# القرآن الكريم

وترجمة معانيه إلى
اللغة البورمية

المجلد الثاني
من الجزء (١٦) إلى (٣٠)

إِنَّا نَحْنُ نَزَّلْنَا الذِّكْرَ وَإِنَّا لَهُ لَحَافِظُونَ



မွန်မြတ်သည့် ဝတ်ကျောင်းတော်နှစ်ပါးအားစောင့်ကြပ်တော်မူသော

**ဘုရင်မင်းမြတ် ဖဟဒ် ဘင်(န်) အဗ္ဗဒွလ်အဇီးဇ် အာလ်စအူဒ်**

**( စအူဒီ အာရေဗျ နိုင်ငံ ဘုရင်မင်းမြတ်)** ၏

အမိန့်တော်အရ ဤ ကုရ်အာန်ကျမ်းမြတ်နှင့် ၎င်း၏ ဘာသာပြန်ကို ပုံနှိပ်ခြင်းဖြစ်သည်။

تَشَرَّفَ بِالأَمْرِ بِطِبَاعَةِ هَٰذَا المُصْحَفِ الشَّرِيفِ وَتَرْجَمَةِ مَعَانِيهِ

خَادِمُ الحَرَمَيْنِ الشَّرِيفَيْنِ المَلِكُ فَهْدُ بْنُ عَبْدِ العَزِيزِ آلُ سُعُودٍ

مَلِكُ المَمْلَكَةِ العَرَبِيَّةِ السُّعُودِيَّةِ

هٰذا المُصْحَفُ الشَّرِيفُ وَتَرْجَمَةُ مَعانِيهِ

هَدِيَّةٌ مِن خادِمِ الحَرَمَيْنِ الشَّرِيفَيْنِ المَلِكِ فَهْدِ بنِ عَبْدِ العَزِيزِ آلِ سُعُود




المُجلد الثاني

من الجزء (١٦) إلى (٣٠)

مجمع الملك فهد لطباعة المصحف الشريف

ဤ ကုရ်အာန်ကျမ်းမြတ် မြန်မာဘာသာပြန်ကို ဆော်ဒီ အာရေးဗျ
နိုင်ငံရှိ မွန်မြတ်သည့် ဝတ်ကျောင်းတော် နှစ်ပါးအား စောင့်ကြပ်တော်
မူသည့် ဘုရင်မင်းမြတ် "ဖဟ်ဒ်ဘင်(န်) အဗ္ဗဒွလ် အဇီးဇ် အာလ်စအုဒ်"
(ဟဖီဇဟုလ္လာဟ်)မှ မေတ္တာလက်ဆောင်အဖြစ်ပေးအပ်ပါသည်။




# ဒုတိယတွဲ

အစောင်(၁၆)မှ(၃၀)ထိ

**ဖဟ်ဒ်ဘုရင် ကုရ်အာန် ကျမ်းမြတ် ပုံနှိပ်တိုက်**

بسم الله الرحمن الرحيم

# مقدمة

بقلم معالي الدكتور : عبد الله بن عبد المحسن التركي
وزير الشؤون الإسلامية والأوقاف والدعوة والإرشاد
المشرف العام على المجمع

الحمد لله رب العالمين ، القائل في كتابه الكريم :

﴿ ... قَدْ جَآءَكُم مِّنَ ٱللَّهِ نُورٌ وَكِتَٰبٌ مُّبِينٌ ﴾

والصلاة والسلام على أشرف الأنبياء والمرسلين، نبينا محمد، القائل :

« خيركم من تعلّم القرآن وعلّمه » .

أما بعد :

فإنفاذاً لتوجيهات خادم الحرمين الشريفين، الملك فهد بن عبد العزيز آل سعود، حفظه الله، بالعناية بكتاب الله، والعمل على تيسير نشره، وتوزيعه بين المسلمين، في مشارق الأرض ومغاربها، وتفسيره، وترجمة معانيه إلى مختلف لغات العالم .

وإيماناً من وزارة الشؤون الإسلامية والأوقاف والدعوة والإرشاد بالمملكة العربية السعودية بأهمية ترجمة معاني القرآن الكريم إلى جميع لغات العالم المهمة، تسهيلاً لفهمه على المسلمين الناطقين بغير العربية، وتحقيقاً للبلاغ المأمور به في قوله صلى الله عليه وسلم : « بَلِّغُوا عني ولو آية » .

وخدمة لإخواننا الناطقين باللغة البورمية، يطيب لمجمع الملك فهد لطباعة المصحف الشريف بالمدينة المنورة أن يقدم للقارئ الكريم هذه الترجمة البورمية التي قام بها مجموعة من العلماء، وراجعها من قبل المجمع الشيخ عبد الحميد المظاهري الندوي والشيخ عبد الخالق عبد الولي .

وننتهز هذه الفرصة لنشكر صاحبة حق هذه الترجمة « المؤسسة المركزية للصندوق الإسلامي » في مينمار لسماحها للمجمع بإعادة طبعها .

ونحمد الله سبحانه وتعالى أن وفق لإنجاز هذا العمل العظيم الذي نرجو أن يكون خالصاً لوجهه الكريم، وأن ينفع به الناس .

إننا لندرك أن ترجمة معاني القرآن الكريم ، مهما بلغت دقتها ، فإنها ستكون قاصرة عن أداء المعاني العظيمة التي يحويها النص القرآني المعجز،وأن المعاني التي تؤديها الترجمة إنما هي حصيلة ما بلغه علم المترجم في فهم كتاب الله الكريم، وأنه يعتريها ما يعتري عمل البشر كلّه من خطأ ونقص .

ومن ثم نرجو من كل قارئ لهذه الترجمة أن يوافي مجمع الملك فهد لطباعة المصحف الشريف بالمدينة النبوية، بما قد يجده فيها من خطأ أو نقص أو زيادة، للاستفادة من هذه الملاحظات في الطبعات القادمة إن شاء الله .

والله الموفق ، وهو الهادي إلى سواء السبيل .

بِسۡمِ ٱللَّهِ ٱلرَّحۡمَٰنِ ٱلرَّحِيمِ

# စကားချီး

الحمد لله رب العالمين ، القائل في كتابه الكريم : ﴿ قَدْ جَآءَكُم مِّنَ ٱللَّهِ نُورٌ وَكِتَٰبٌ مُّبِينٌ ﴾

والصلاة والسلام على أشرف الأنبياء والمرسلين ، نبينا محمد ، القائل :

«خيركُم مَنْ تعلَّم القرآن وعلَّمه» .

မွန်မြတ်သည့် ဝတ်ကျောင်းတော်နှစ်ပါး အားစောင့်ကြပ်တော်မူသော ဘုရင်မင်းမြတ် “ဖဟဒ်ဘင်(န်) အဗ္ဗဒွလ် အဇီးဇ်အာလ်စအူဒ်”(ဟဖိဇဟုလ္လာဟ်)၏ညွှန်ကြားချက်အား အတည်ပြုကာ၊ ကုရ်အာန်ကျမ်းတော်မြတ်အား အထူးဂရု စမ္မ ပြုခြင်း၊ ယင်းကုရ်အာန်ကျမ်းမြတ်အားပျံ့နှံ့မှုကို လွဲ ကူစေရန်၊ ၎င်းအားကမ္ဘာ့တဝှမ်းရှိ မွစ္စလင်မ်များအား ဖြန့်ဖြူးခြင်း၊ အနက် အဓိပ္ပါယ်ဖွင့်ဆိုခြင်းနှင့် ဘာသာပေါင်းစုံတွင် ဘာသာပြန်ဆိုရေး သား ခြင်းပင်ဖြစ်သည်။

ဤသည်ကို အဓိကထားကာ၊ စအူဒီအရေဗျနိုင်ငံရှိ သာသနာရေး၊ အဆောင်ထားရေး၊ သာသနာ့ဖြန့်ချီရေးနှင့်လမ်း ညွှန်မှု ဝန်ကြီး ဌာနသည် ကုရ်အာန်ကျမ်းမြတ် အား ဝင့်ဝါသော ကမ္ဘာ့ဘာသာ စကားပေါင်း စုံတွင် ပြန်ဆိုရေး သား ခြင်းဖြင့် အရဗီ စာပေ မကျွမ်းကျင်သည့် မွစ္စလင်မ်များအဖို့ လွယ်လင့်တကူ နားလည်သဘောပေါက်မိရန်၎င်း၊ တမန်တော်မြတ် မုဟမ္မဒ် (ဆွလ္လာဟု အလိုက် ဟိဝစ္စလ္လာမ်)၏ ပြဋ္ဌာန်းချက် ဖြစ်သည့် “ငါ၏ကိုယ်စား၊ တအာယသ်တော်ပင်ဖြစ်လင့်ကစား၊ အသင်တို့ပို့ ဆောင်ပါလေ” ဟူသည့်ဥဝါဒ တော်အားလည်းကျေပွန်အောင် ဆောင်ရွက်ခြင်းပင်ဖြစ် ပေသည်။

မြန်မာ မွစ္စလင်မ်များအလို့ငှာ အကျိုးသည်ပိုး ဆောင်ရွက်သည့်အားဖြင့်၊ မြန်မာစာပေ တတ်ကျွမ်း သည့် မွစ္စလင်မ်များ အဖို့ ဤ“ကုရ်အာန်ကျမ်းမြတ်၊မြန်မာဘာသာပြန်”ကိုတင်ဆက်ခြင်းသည်၊ မဒီနာဟ်မြို့တော်ရှိ “ဖဟဒ်ဘုရင် ကုရ်အာန်ကျမ်းမြတ်ပုံနှိပ်တိုက်” အဖို့ အလွန်တရာပင် ခြိးမြင့် ဂုဏ်ယူဘွယ်ရာဖြစ်ပေသည်။

ဤ “ကုရ်အာန် ကျမ်း မြတ်၊ မြန်မာဘာသာပြန်”သည် ယခင်ကမြန်မာနိုင်ငံရှိ သာသနာ့ပညာရှင်များတစုမှ ပြုစု၊ စီရင်၊ ရေးသား ထား သော ကျမ်းဂန်တစောင်ဖြစ်ပြီး “ဖဟဒ်ဘုရင် ကုရ်အာန် ကျမ်း မြတ် ပုံနှိပ်တိုက်” မှ မော်လာနာ အဗ္ဗဒွလ် ဟမီးဒ် မဓါဟရီ၊ နဒဝီ နှင့် မော်လာနာ အဗ္ဗဒွလ် ခါလိက္က် အဗ်ဒွလ်ဝလီမဓါဟရီ တို့ ကတည်း ဖြတ် ခဲ့ ခြင်း ဖြစ်သည်။ ထိုနည်း ၎င်း၊ ဤ အခွင့် ရေး ကို အသုံး ပြုကာ၊ “ကုရ် အာန် ကျမ်း မြတ် ၏ အလင်းပြကျမ်း”မူပိုင်ဖြစ်သည့် မြန်မာနိုင်ငံရှိ “အစ္စလာမ် ဗဟိုရုံပုံငွေအဖွဲ့”အား လည်းယင်းကျမ်းဂန်အားပြန်လည် ပုံနှိပ်ထုပ်ဝေခွင့် ပြုသည်ကို အထူးကျေးဇူးတင်ရှိပါ၏။

အလွန်မွန်မြတ်လှသော ဤလုပ်ငန်းကြီး အထမြောက်အောင်မြင်ပါစေဟူ၍ အလ္လာဟ်အသျှင်မြတ်ထံတော်၌ ဆုမွန်ကောင်း တောင်းပါ၏။ ဤလုပ်ငန်းတော်အား ဖြူစင်၊ စင်ကြယ်သည့် စိတ်နှစ်လုံးသားဖြင့် အလ္လာဟ်အသျှင်မြတ် အလို့ငှာသက်သက် ဆောင်ရွက်ခဲ့သည့် လုပ်ငန်းအဖြစ် အတည် ပြု တော် မူပါစေ၊ ထို့ ပြင် တဝ လူခပ်သိမ်းတို့ အား အကြိုးဖြစ် ထွန်းပါ စေ။

အမှန်စင်စစ်၊ ဤဘာသာပြန် ကျမ်းဂန်သည်၊ ဘာသာပြန် ပညာရှင်များ၏ တတ်စွမ်းနိုင်သမျှ ကျိုး စား အားထုတ်ကာ အလ္လာဟ်အသျှင်မြတ် ၏ ကျမ်းဂန်တော်အား နားလည်သဘောပေါက် ခြင်း ၏ အကျိုးဆောင်သာလျှင် ဖြစ်၏။ မရှိစူး ဘဲ၊ အမှတ်တမဲ့၊ တစုံတရာအမှားအယွင်း ရှိခဲ့ပါက၊ ဤသည်မနု သာလူသားတိုင်း မှားယွင်းနိုင်သည့် မှားယွင်းမှုနှင့် ချို့ ယွင်းမှု သက်သက် သာလျှင် ယူဆကြ ပါကုန်။

သို့ဖြစ်ပေရာ၊ ဤဘာသာပြန်ကို ဖတ်ရှု လေ့လာသူတိုင်းအဖို့၊ တစုံတရာ အမှား အယွင်း သော်လည်း ကောင်း၊ ချို့ ယွင်း မှုသော် လည်းကောင်း ၊ တိုးချဲ့မှုသော်လည်းကောင်း၊ မှတ်ချက်တစုံတရာတွေ့လိုတွေ့ငြား ၊ မဒီနာဟ်မြို့ တော် ရှိ ဖဟဒ်ဘုရင်ကုရ်အာန်ကျမ်းမြတ် ပုံနှိပ်တိုက် သို့ တိုက်ရိုက် ပို့ဆောင်ပါရန် အထူးမေတ္တာရပ်ခံ အပ်ပါသည်။ ယင်းမှတ် ချက်များအားလေ့လာဖတ်ရှုသူများ ပိုမိုအကျိုးဖြစ်ထွန်းစေရန်အလို့ငှာ၊ လာလတ္တံ့သော နောက်ဆက်တွဲများတွင် တိုးချဲ့ ထည့် သွင်း ပေပါမည်။ (အင်ရှာအလ္လာဟ်–အလ္လာဟ်အသျှင်မြတ် သဘောတူခဲ့ပါလျှင်)။

“အလ္လာဟ်အသျှင်မြတ်သည်သာလျှင် အောင်မြင်မှုပေးသနားတော်မူသော အရှင်ဖြစ်တော်မူ၏။ ထိုအရှင်မြတ် သည်သာလျှင် တရားလမ်းမှန် သို့ညွှန်ပြတော်မူ သောအရှင် ဖြစ်တော်မူပေသတည်း။”

**အဗ်ဒွလ္လာဟ် ဘင် န်အဗ် ဒွလ်မုဟ်စင်န် အလ် သုရ်ကီ**

**ဝန်ကြီး**

သာသနာရေး၊ အဆောင် ထား ရေး၊ သာသနာ့ဖြန့် ချီ ရေး နှင့် လမ်း ညွှန် မှု ဝန် ကြီး ဌာန

“ဖဟ်ဒ် ဘုရင် ကုရ် အာန် ကျမ်း မြတ် ပုံ နှိပ် တိုက်” ညွှန် ကြား ရေး မှူး ချုပ်

قَالَ اَلَمْ اَقُلْ لَّكَ اِنَّكَ لَنْ تَسْتَطِيْعَ مَعِيَ صَبْرًا ﴿٧٥﴾

၇၅။ ၎င်း(ခိသ္ဇ်ရ်)က (ဤသို့) ပြောဆိုခဲ့ပြန်၏။ (အချင်း-မူစာ) စေကန်အမှန် အသင်သည် ကျွန်ုပ်တို့နှင့်အတူ အလျှင်း သည်းခံ၍ နေနိုင်မည်မဟုတ်ကြောင်း ကျွန်ုပ်အသင်အား ပြောကြားခဲ့သည်မဟုတ်ပါလော။

قَالَ اِنْ سَاَلْتُكَ عَنْ شَيْءٍۢ بَعْدَهَا فَلَا تُصٰحِبْنِيْ ۚ قَدْ بَلَغْتَ مِنْ لَّدُنِّيْ عُذْرًا ﴿٧٦﴾

၇၆။ ယင်း(မူစာ)က (အချင်း-ခိသ္ဇ်ရ်) အကယ်၍ ကျွန်ုပ်သည် ဤသည့်နောက်တွင် အသင်အား တစ်စုံတစ်ရာနှင့်စပ်လျဉ်း၍ မေးမြန်းခဲ့ပါလျှင် အသင်သည် ကျွန်ုပ်အား (မိမိနှင့်)အတူ မထားပါနှင့်၊ စေကန်မလွဲ အသင်သည် ကျွန်ုပ်ထံမှ ခွင့်လွှတ်ရန်အကြောင်းပြချက် (၏အဆုံးစွန်)သို့ ရောက်ခဲ့ချေပြီဟု ပြောဆိုခဲ့၏။

فَانْطَلَقَا ٚ حَتّٰىٓ اِذَآ اَتَيَآ اَهْلَ قَرْيَةِ ۣاسْتَطْعَمَآ اَهْلَهَا فَاَبَوْا اَنْ يُّضَيِّفُوْهُمَا فَوَجَدَا فِيْهَا جِدَارًا يُّرِيْدُ اَنْ يَّنْقَضَّ فَاَقَامَهٗ ۭ قَالَ لَوْ شِئْتَ لَتَّخَذْتَ عَلَيْهِ اَجْرًا ﴿٧٧﴾

၇၇။ တစ်ဖန် ၎င်းတို့နှစ်ဦးသည် (ရှေ့သို့ဆက်လက်၍) လျှောက်သွားခဲ့ကြပြန်ရာ မြို့တစ်မြို့မှ မြို့သားတို့ထံ ရောက်လာခဲ့ကြသောအခါ ၎င်းတို့နှစ်ဦးက ယင်းမြို့သားတို့ထံ (ဧည့်ခံကျွေးမွေးရန်မေတ္တာရပ်ခဲ့ကြ၏။) ထိုအခါ ယင်းမြို့သားတို့က ၎င်းတို့နှစ်ဦးအား ဧည့်ခံ(ကျွေးမွေး)ခြင်းကို ငြင်းပယ်ခဲ့ကြလေသည်။ ထို့နောက် ၎င်းတို့နှစ်ဦးသည် ထိုမြို့တွင်း၌ တံတိုင်းတစ်ခုကိုတွေ့ရှိခဲ့ကြ၏။ ထိုတံတိုင်းမှာ ပြိုကျအံ့ဆဲဆဲဖြစ်နေလေရာ ယင်း(ခိသ္ဇ်ရ်)က ထိုတံတိုင်းကို ဖြောင့်မတ်စွာ ရပ်တည်စေခဲ့လေသည်။

(ထိုအခါ) ယင်း(မူစာ)က (အချင်း-ခိသ္ဇ်ရ်) အကယ်၍ အသင်သည် အလိုရှိခဲ့ပါမူ ဤ(တံတိုင်းတည့်မတ်ပေးရေး)နှင့်စပ်လျဉ်း၍ အမှန်ပင် လုပ်ခကို ယူနိုင်ခဲ့ပေသည်ဟု ပြောဆိုခဲ့လေသည်။

قَالَ هٰذَا فِرَاقُ بَيْنِيْ وَبَيْنِكَ ۚ

၇၈။ (ထိုအခါ) ယင်း(ခိသ္ဇ်ရ်)က (အချင်း-မူစာ၊) ဤသည်ကား အသင်နှင့်ကျွန်ုပ် ခွဲခွာရန်(အချိန်)ပင်တည်း။

سَاُنَبِّئُكَ بِتَاْوِيْلِ مَالَمْ تَسْتَطِعْ عَّلَيْهِ صَبْرًا ﴿٧٨﴾

ယခုသော်ကား ကျွန်ုပ်သည် အသင် သည်းမခံနိုင်ခဲ့သောကိစ္စနှင့်စပ်လျဉ်း၍ အဖြစ်မှန်ကို အသင့်အား သိစေပါတော့မည်ဟုပြောဆိုခဲ့လေသတည်း။[၁]

اَمَّا السَّفِيْنَةُ فَكَانَتْ لِمَسٰكِيْنَ يَعْمَلُوْنَ فِى الْبَحْرِ فَاَرَدْتُّ اَنْ اَعِيْبَهَا وَكَانَ وَرَآءَهُمْ مَّلِكٌ يَّاْخُذُ كُلَّ سَفِيْنَةٍ غَصْبًا ﴿٧٩﴾

**၇၉။** စင်စစ် ထိုရွက်သင်္ဘောကား မြစ်ထဲတွင် လုပ်ကိုင်(စားသောက်)ကြရရှာသော သူဆင်းရဲများ၏ ရွက်သင်္ဘောပင် ဖြစ်ခဲ့ပေရာ ကျွန်ုပ်သည် ယင်းရွက်သင်္ဘော၌ အပြစ်အနာအဆာရှိစေရန် ရည်ရွယ်ခဲ့ပေသည်။ အကြောင်းသော်ကား ၎င်းတို့(ရောက်ရှိကြမည့်) ရှေ့(စခန်း)တွင် ဘုရင်တစ်ပါးရှိသည်။ ထိုဘုရင်သည် (အပြစ်အနာအဆာကင်းသော) ရွက်သင်္ဘောမှန်သမျှကို အဓမ္မနည်းနှင့် လုယူ သိမ်းပိုက်လေ့ရှိသောကြောင့်ပင်တည်း။

---

(၁) ထို့နောက် ခိဇ္ဇ်ရ်နှင့် တမန်တော်မူစာသည် ဆက်လက် ခရီးထွက်ခဲ့ကြပြန်၏။ အတန်ကြာသော် ရွာတစ်ရွာသို့ ရောက်ရှိလာခဲ့ကြ၏။ ထိုရွာသားများသည် အေးချမ်းသာယာစွာ နေထိုင်လျက်ရှိကြ၏။ ကောင်းစွာ စားသောက်လျက် ရှိကြ၏။ ဧည့်သည် အာဂန္တုများအား ကောင်းစွာ ဧည့်ခံကျွေးမွေးနိုင်ကြ၏။

ခိဇ္ဇ်ရ်နှင့် တမန်တော်မူစာက ထိုရွာသားများထံ မိမိတို့သည် ဧည့်သည်အာဂန္တုများဖြစ်ကြောင်း၊ မိမိတို့အား ဧည့်ခံကျွေးမွေးကြပါမည့်အကြောင်း မေတ္တာရပ်ခံခဲ့ကြ၏။ သို့မေတ္တာရပ်ခံကြသော်လည်း ထိုရွာသားများသည် ရိုင်းပြစွာဖြင့် ဧည့်ခံကျွေးမွေးခြင်းကိစ္စကို ငြင်းပယ်ခဲ့ကြ၏။ လူမဆန်ခဲ့ကြပေ။ ခိဇ္ဇ်ရ်နှင့် တမန်တော်မူစာသည် သည်းခံခဲ့ကြ၏။

ထိုရွာအတွင်း သွားလာနေခိုက် ခိဇ္ဇ်ရ်သည် မြေသို့ပြိုအံ့ဆဲဆဲ ဖြစ်နေသော အုတ်နံရံတစ်ခုကို တွေ့မြင်ရာ၊ ထိုနံရံကို မိမိလက်ဖြင့် ကောင်းမွန်စွာ စနစ်တကျ တည့်မတ်ပေးလိုက်၏။

ထိုအခါ တမန်တော်မူစာသည် ခိဇ္ဇ်ရ်အား "ကျွန်ုပ်တို့သည် ဤရွာသားများထံသို့ ခရီးသည်များအဖြစ်နှင့် ရောက်ရှိလာခဲ့ကြပါသည်။ ဤရွာသားများထံ ဧည့်ခံကျွေးမွေးရန် မေတ္တာရပ်ခံခဲ့ကြပါသည်။ သို့ရာတွင် ဤရွာသားများသည် ကျွန်ုပ်တို့အား ဧည့်ခံကျွေးမွေးခြင်းလည်း မပြုခဲ့ကြပေ၊ နေရာထိုင်ခင်းလည်း မပေးခဲ့ကြပေ။

ဤသို့ရိုင်းပြသော၊ လူမဆန်သော ရွာသားတစ်ဦး၏ ပြိုလဲအံ့ဆဲဆဲ အုတ်နံရံကို အခကြေးငွေမယူဘဲ အသို့ကြောင့် တည့်မတ်ပေးလိုက်သနည်း-။ တည့်မတ်ပေးပါက အခကြေးငွေ ယူသင့်ပါသည်"ဟု ဆို၏။

ထိုအခါ ခိဇ္ဇ်ရ်က "ကျွန်ုပ်တို့သည် တစ်ဦးနှင့်တစ်ဦး လမ်းခွဲကြရန် အချိန်ရောက်ပြီ၊ အသင်သည် ယခင်က ကျွန်ုပ်ပြောဆိုခဲ့သည့်အတိုင်း သည်းမခံနိုင်ပြီ၊ ဆက်လက် အတူနေထိုင်ရန် မဖြစ်တော့ပြီ၊ ထို့အတွက် တစ်ဦးနှင့်တစ်ဦး လမ်းမခွဲမီ အသင်သည်းမခံနိုင်ခဲ့သည့် ကိစ္စများနှင့် စပ်လျဉ်း၍ ကြောင်းရင်းမှန်များကို ပြောပြလိုက်ပါမည်" ဟုပြော၍ အောက်ပါအတိုင်း ပြောပြလိုက်လေသည်။

وَأَمَّا الْغُلَامُ فَكَانَ أَبَوَاهُ
مُؤْمِنَيْنِ فَخَشِينَا أَنْ يُرْهِقَهُمَا
طُغْيَانًا وَكُفْرًا ﴿٨٠﴾

**၈၀။** ၎င်းပြင် ထိုသူငယ်ကား ၎င်း၏မိဘနှစ်ပါးမှာ မုအ်မင်န် သက်ဝင်ယုံကြည်သူများ ဖြစ်ခဲ့ကြရာ ယင်းသူငယ်သည် (မိမိ)၏ ဆိုးသွမ်းမှုဖြင့်လည်းကောင်း၊ သွေဖည်မှုဖြင့်လည်းကောင်း၊ ထိုမိဘနှစ်ပါးအား ဖိစီးလွှမ်းမိုးမည်ကို ကျွန်ုပ်သိရှိခဲ့ပေသည်။

فَأَرَدْنَا أَنْ يُبْدِلَهُمَا رَبُّهُمَا
خَيْرًا مِنْهُ زَكَاةً وَأَقْرَبَ
رُحْمًا ﴿٨١﴾

**၈၁။** သို့ဖြစ်ပေရာ ၎င်းတို့နှစ်ဦးအား ၎င်းတို့၏အရှင်မြတ်က ထိုသူငယ်ထက် (အကျင့်စာရိတ္တ) စင်ကြယ်သန့်ရှင်းရာတွင် ပိုမိုကောင်းမြတ်၍ (မိဘနှစ်ပါးအား) ချစ်ခင်မြတ်နိုး သဂြိုဟ်ထောက်ပံ့ရာတွင်လည်း ပိုမိုထူးကဲသော (သားသမီးမျိုးကို) အစားပေးတော်မူရန် ကျွန်ုပ် ရည်ရွယ်ခဲ့ပေသတည်း။

وَأَمَّا الْجِدَارُ فَكَانَ
لِغُلَامَيْنِ يَتِيمَيْنِ فِي
الْمَدِينَةِ وَكَانَ تَحْتَهُ
كَنْزٌ لَهُمَا وَكَانَ أَبُوهُمَا
صَالِحًا فَأَرَادَ رَبُّكَ أَنْ يَبْلُغَا
أَشُدَّهُمَا وَيَسْتَخْرِجَا كَنْزَهُمَا
رَحْمَةً مِنْ رَبِّكَ وَمَا فَعَلْتُهُ
عَنْ أَمْرِي ذَٰلِكَ تَأْوِيلُ مَا لَمْ
تَسْطِعْ عَلَيْهِ صَبْرًا ﴿٨٢﴾

**၈၂။** ထို့ပြင် ယင်းတံတိုင်းကား ထိုမြို့မှ မိဘမဲ့သူငယ်နှစ်ဦးတို့၏ တံတိုင်းပင်ဖြစ်ခဲ့ပေသည်။ ၎င်းပြင် ယင်းတံတိုင်း၏ အောက်တွင် ထိုသူငယ်နှစ်ဦးအဖို့ စုဆောင်းထားသော ဘဏ္ဍာပစ္စည်းသည် ရှိနေပေသည်။ ထိုမှတစ်ပါး ထိုသူငယ်နှစ်ဦး၏ဖခင်မှာလည်း သူမွန်သူမြတ်တစ်ပါးပင် ဖြစ်ခဲ့ပေရာ အသင့်အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်သည် ၎င်းတို့နှစ်ဦး မိမိတို့ လူလားမြောက်သောအရွယ်သို့ ရောက်ကြသောအခါ အသင်အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်၏ ကရုဏာတော်အားဖြင့် မိမိတို့၏ဘဏ္ဍာပစ္စည်းကို ဖော်ထုတ်ယူကြရန် ရည်ရွယ်တော်မူခဲ့ပေသည်။

စင်စစ် ကျွန်ုပ်သည် ဤကိစ္စကို မိမိသဘောနှင့် ပြုလုပ်ခဲ့သည် မဟုတ်ပေ။ ဤသည် အသင် သည်းခံ၍ မနေနိုင်ခဲ့သောကိစ္စ၏အဖြစ်မှန်ပင်ဖြစ်ပေသည်တကား၊[၁]

---

(၁) **ခိဇ္ဇ်ရ်က အကြောင်းရင်းမှန်ကို ပြောပြခြင်း။**

(က) လှေမှာ သမုဒ္ဒရာပင်လယ်တွင် လုပ်ကိုင်စားသောက်နေကြသော ဆင်းရဲသားများ၏ ➢➢

➤➤ လှေဖြစ်သည်။ ယခု ၎င်းတို့သွားလာနေကြသောဒေသတွင် မင်းဆိုးတစ်ပါး ရှိသည်။ ထိုမင်းဆိုးသည် ကောင်းသော လှေများကို မတရားသဖြင့် အဓမ္မသိမ်းလေ့ရှိသည်။

ထိုမင်းဆိုးသည် အပြစ်အနာအဆာရှိသောလှေကို သိမ်းဆီးလေ့မရှိ၊ ထို့အတွက် ဤလှေတွင် အပေါက်ဖောက်လိုက်ခြင်း ဖြစ်သည်။ ဤသို့ဖြင့် ဆင်းရဲသား လှေပိုင်ရှင်တို့အား ကာကွယ်လိုက်ခြင်းဖြစ်သည်။

(ခ) ကလေးမှာ–၎င်း၏ မိဘနှစ်ပါးသည် မုအ်မင်န်များဖြစ်ကြသည်။ မိမိတို့၏ ကလေးကိုလည်း အသက်တမျှ ချစ်မြတ်နိုးကြသည်။ သို့ရာတွင် ဤကလေးသည် ကြီးပြင်းလာသည့်အခါ ကာဖိရ်ဖြစ်မည်၊ ဆိုးမိုက်မည်၊ မိမိ၏ ကာဖိရ်ဖြစ်မှု၊ သွေဖည်မှု၊ ဆိုးသွမ်းမှုများဖြင့် မိဘနှစ်ပါးတို့အား မှောက်မှားစေမည်ကို စိုးရိမ်ရသည်။

အလ္လာဟ်အရှင်မြတ်သည် ထိုမိဘနှစ်ပါးတို့အား ထိုသို့သော သားဆိုးအစား သာသနာကိုလေးစားသော၊ မိဘတို့အား ချစ်ခင်မြတ်နိုးသော သားလိမ္မာတစ်ယောက် ချီးမြှင့်တော်မူရန်အလို့ငှာ ထိုကလေးအား ယင်းသို့ သတ်လိုက်ခြင်းဖြစ်သည်။ ဤသို့ဖြင့် ထိုမိဘနှစ်ပါးတို့အား ကာကွယ်လိုက်ခြင်း ဖြစ်သည်။

(ဂ) နံရံကိစ္စမှာ- အဆိုပါ နံရံအောက်တွင် မိဘမဲ့ကလေးနှစ်ယောက်၏ ဘဏ္ဍာရှိသည်။ ထိုကလေးနှစ်ယောက်၏ဖခင်မှာ သူတော်ကောင်း တစ်ဦးဖြစ်သည်။ ထိုကလေးများ လူလားမြောက်သည့်အခါ မိမိတို့ပိုင်သော ဘဏ္ဍာပစ္စည်းများကို ကောင်းစွာ ထုတ်ဖော်ယူနိုင်ရန်အတွက် အဆိုပါအုတ်နံရံသည် မတ်တည်နေရန်လိုပေသည်။

ထိုအုတ်နံရံ ပြိုလဲသွားပါက ၎င်းအောက်တွင် မြှုပ်နှံထားသော ဘဏ္ဍာပစ္စည်းများသည် ပေါ်သွားပေမည်။ ပေါ်သွားပါက အဆိုပါ ရွာသားများသည် မတရား စားသုံးပစ်ကြပေမည်၊ အဆိုပါ ကလေးနှစ်ယောက်သည် လက်မဲ့ဖြစ်သွားကြပေမည်။

ထို့အတွက် ယင်းအုတ်နံရံကို တည့်မတ်ပေးလိုက်ခြင်းဖြစ်သည်။ ဤသည် အလ္လာဟ်အရှင်မြတ်၏ ကရုဏာတော်ပင်။ ကျွန်ုပ် ဤသို့ပြုလုပ်ခြင်းမှာ မိမိဆန္ဒသဘောအရ မဟုတ်၊ အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်အရသာ ဖြစ်သည်။

ဤသည် အသင်(တမန်တော်မူစာ) သည်းမခံနိုင်သော ကိစ္စများနှင့်စပ်လျဉ်းသည့် အကြောင်းရင်းမှန်များ ဖြစ်သည်။

ဤအကြောင်းကို ကုရ်အာန် (၁၈း၇၉–၈၂)တွင် မိန့်ဆိုထားတော်မူသည်။

**မှတ်ချက်။**

(က) "ခိသ္ဝ်ရ်"ဟူသော ပုဒ်သည် အမည်လော၊ ဘွဲ့လော–။ ဤတွင် အဆိုကွဲပြားလျက်ရှိသည်။ ကုရ်အာန်ကျမ်းမြတ်တွင် "ငါ၏ကျွန်များအနက် ကျွန်တစ်ယောက်" ဟူ၍သာပါရှိသည်။ အမည်နာမ အတိအကျ ဖော်ပြမိန့်ဆိုထားတော်မူသည် မရှိချေ။

ဗုခါရီ၊ မွတ်စ်လင်မ် စသည့် ဟဒီးဆ်ဩဝါဒကျမ်းကြီးများတွင်သာလျှင်၊ ယင်းပုဂ္ဂိုလ်မွန်အား "ခိသ္ဝ်ရ်" ဟူ၍သုံးနှုန်းထားသည်ကို တွေ့ရှိရသည်။ ခိသ္ဝ်ရ်(အလိုင်ဟစ္စလာမ်)သည် တမန်တော်မူစာ (အလိုင်ဟစ္စလာမ်)နှင့် ခေတ်ပြိုင် ပုဂ္ဂိုလ်မွန်တစ်ပါး ဖြစ်သည်ဟု မှတ်ယူထားပါက ကျွန်ုပ်တို့အဖို့ လုံလောက်ပေသည်။

ခိသ္ဝ်ရ်(အလိုင်ဟစ္စလာမ်)သည် ရစူလ်လော၊ နဗီလော၊ ဝလီလော။ ဤတွင်လည်း အဆိုကွဲပြားလျက်ရှိသည်။ အများပညာရှင်တို့၏ ယူဆချက်အရ "ခိသ္ဝ်ရ်"သည် ရစူလ်လည်းမဟုတ်၊ ရိုးရိုးသူတော်စင်လည်းမဟုတ်၊ နဗီသာလျှင်ဖြစ်သည်။

وَيَسْـَٔلُونَكَ عَن ذِى ٱلْقَرْنَيْنِ ۖ قُلْ سَأَتْلُوا۟ عَلَيْكُم مِّنْهُ ذِكْرًا ﴿٨٣﴾

၈၃။ ထိုမှတစ်ပါး ၎င်း(ကုရိုက်ရှ်အမျိုးသား)တို့သည် ဇုလ်ကရ်နိုင်န် [၁] နှင့်ပတ်သက်၍ အသင့်အား မေးမြန်းကြလေသည်။ (အို-နဗီတမန်တော်) အသင်သည် ၎င်းတို့အား (အချင်းတို့၊) ငါသည် ယခုပင် ယင်း(ဇုလ်ကရ်နိုင်န်)၏ (အကြောင်းများ)အနက် အကြောင်းတစ်ခုကို အသင်တို့ရှေ့ဝယ် ပြန်၍ ပြောပြမည်ဟူ၍ ပြောကြားပါလေ။

إِنَّا مَكَّنَّا لَهُۥ فِى ٱلْأَرْضِ وَءَاتَيْنَٰهُ مِن كُلِّ شَىْءٍ سَبَبًا ﴿٨٤﴾

၈၄။ ကေန်မလွဲ ငါအရှင်မြတ်သည် ယင်းဇုလ်ကရ်နိုင်န်အား ကမ္ဘာမြေဝယ် အုပ်ချုပ်မှု အာဏာပေးတော်မူခဲ့၏။ ထိုမှတစ်ပါး ငါအရှင်မြတ်သည် ၎င်းအား အရာခပ်သိမ်းတို့အနက်မှ (လိုအပ်သော)ဥစ္စာပစ္စည်း လက်နက်ကိရိယာကို (တစ်နည်း) အရာခပ်သိမ်းတို့နှင့် စပ်လျဉ်း၍ နည်းလမ်းကို (တစ်နည်း) ဥစ္စာပစ္စည်း လက်နက်ကိရိယာ အမျိုးမျိုးကို ချီးမြှင့်ပေးသနားတော်မူခဲ့၏။ [၂]

فَأَتْبَعَ سَبَبًا ﴿٨٥﴾

၈၅။ သို့ဖြစ်ပေရာ ယင်းဇုလ်ကရ်နိုင်န်သည် လမ်းတစ်ခုကို လိုက်ခဲ့လေသည်။

---

(၁) **ဇုလ်ကရ်နိုင်န်။**

"ကရန်"၏အဓိပ္ပါယ်မှာ ဦးချို၊ အလက်၊ အစွန်း၊ အင်အား၊ စွမ်းရည်သတ္တိဟုဖြစ်၏။ "ကရ်နိုင်န်" သည် "ကရ်န်"၏ ဗဟုဝုစ်ကိန်းဖြစ်၏။ ဇုလ်ကရ်နိုင်န်၏အဓိပ္ပါယ်မှာ ဦးချိုနှစ်ခု၏ ပိုင်ရှင်၊ အစွန်းနှစ်ခု၏ပိုင်ရှင်၊ စွမ်းရည်သတ္တိရှိသူ၊ အားအင်ရှိသူဟုဖြစ်၏။

ဇုလ်ကရ်နိုင်န်သည် ကမ္ဘာ့အရှေ့စွန်း၊ အနောက်စွန်းများသို့ သွားရောက်လည်ပတ်နိုင်ခဲ့၏။ စွမ်းရည်သတ္တိလည်းရှိ၏။ တန်ခိုးအာဏာစက်လည်းကြီး၏။ ထို့အတွက် "ဇုလ်ကရ်နိုင်န်"ဟု အမည်တွင်ခဲ့ခြင်း ဖြစ်တန်ရာ၏။

(၂) **စိုးမိုးနိုင်စွမ်းပေးတော်မူခဲ့ခြင်း။**

အလ္လာဟ်အရှင်မြတ်သည် ဇုလ်ကရ်နိုင်န်အား ကမ္ဘာတွင် စိုးမိုးနိုင်စွမ်းကိုလည်း ချီးမြှင့်တော်မူခဲ့၏။ မိမိ၏ အာသာဆန္ဒအတိုင်း စီမံအုပ်ချုပ်နိုင်ရန်အတွက် လိုအပ်သည့် ပညာ၊ စွမ်းရည်၊ ပစ္စည်းများကိုလည်း ချီးမြှင့်တော်မူခဲ့၏။

حَتّٰٓى اِذَا بَلَغَ مَغْرِبَ الشَّمْسِ وَجَدَهَا تَغْرُبُ فِىْ عَيْنٍ حَمِئَةٍ وَّوَجَدَ عِنْدَهَا قَوْمًا ۬ؕ قُلْنَا يٰذَا الْقَرْنَيْنِ اِمَّاۤ اَنْ تُعَذِّبَ وَاِمَّاۤ اَنْ تَتَّخِذَ فِيْهِمْ حُسْنًا ﴿٨٦﴾

၈၆။ နောက်ဆုံးတွင် ယင်းဇုလ်ကရ်နိုင်န်သည် နေဝင်သောနေရာသို့ ရောက်ရှိခဲ့သောအခါ ထိုနေကို မည်းနက်နောက်ကျိ (ရွံ့ပုပ်ထူသော)အိုင်တစ်ခုတွင် ဝင်နေဘိကဲ့သို့ တွေ့မြင်လေ၏။ [၁] ၎င်းပြင် ထိုအိုင်၏ အနီးတွင် လူမျိုးတစ်မျိုးကိုလည်း တွေ့ရှိလေသည်။ (ထိုအခါ) ငါအရှင်မြတ်သည် (ယင်း ဇုလ်ကရ်နိုင်န် အား) "အို-ဇုလ်ကရ်နိုင်န်၊ အသင်သည် (ဤအမျိုးသားတို့အား) ပြစ်ဒဏ်ခတ်ခြင်းကိုသော်လည်းကောင်း၊ ယင်းတို့နှင့်ပတ်သက်၍ ထောက်ထားညှာတာခြင်းကိုသော်လည်းကောင်း၊ (ဤနှစ်ခုအနက် မိမိ ကြိုက်နှစ်သက်ရာကို) ပြုနိုင်ခွင့်ရှိသည်" ဟု မိန့်ကြားတော်မူခဲ့ပေသည်။ [၂]

---

① **ဇုလ်ကရ်နိုင်န်၏ ပထမခရီး။**

ဇုလ်ကရ်နိုင်န်သည် သုံးဌာနသို့ အထူးတလည် ခရီးထွက်ခဲ့၏။ ထိုအရပ်ဒေသများကို သိမ်းပိုက်စိုးမိုးအုပ်ချုပ်ခဲ့၏။

ဇုလ်ကရ်နိုင်န်သည် ပထမအကြိမ် ကမ္ဘာ၏အနောက်ဖျားသို့ခရီးထွက်ခဲ့လေ၏။ ထိုခရီးတွင် Lake Ochrida အမည်ရှိသောအင်းကြီးသို့လည်းရောက်ရှိခဲ့၏။ ထိုအင်းကြီးသည် Serbia (Yugoslavia) ၏ အနောက်ဖက်တွင် တည်ရှိ၏။ Monastia ၏ အနောက်ဘက် မိုင်(၅၀)အကွာတွင် တည်ရှိ၏။ ပင်လယ်ရေပြင်ထက် ပေ(၂၂၆၀)မြင့်၏။ ထိုအင်းမှ စီးထွက်သောရေသည် အလွန်နောက်၏။ မည်းနက်၏။ ထိုအင်းမှစီးထွက်သော မြစ်ကိုပင် Black River(မြစ်နက်)ဟု ခေါ်ဆိုကြ၏။ ကြည့်-မာဂျိဒီ။

ဇုလ်ကရ်နိုင်န်သည် အဆိုပါအင်းကြီးသို့ နေဝင်ချိန်တွင် ရောက်ရှိလာခဲ့၏။ နေလုံးကြီးသည် အလွန်မည်းနက်သော ရေထဲတွင် သက်ဝင်နစ်မြုပ်သွားဘိအလား ထင်မြင်ရ၏။ အမှန်မှာ နေလုံးသည် ရေထဲ သက်ဝင်သွားသည်မဟုတ်။ သို့ရာတွင် သာမန်ကြည့်ရှုသူ တစ်ဦးသည် ယင်းသို့ပင် ထင်မြင်၏။ ဤသည့်သဘောကိုပင် ဤအာယတ်တော်တွင် မိန့်ဆိုထားတော်မူသည်။

② **ဇုလ်ကရ်နိုင်န်၏တရား။**

ဇုလ်ကရ်နိုင်န်သည် အဆိုပါအင်းကြီး၏ ပတ်ဝန်းကျင်၌ လူမျိုးတစ်မျိုးကို တွေ့ရှိခဲ့၏။ ထိုလူမျိုးနှင့် ပတ်သက်၍ အလ္လာဟ်အရှင်မြတ်က ဇုလ်ကရ်နိုင်န်အား "အသင်သည် ၎င်းတို့အား ဒုက္ခပေးလိုကလည်း ဒုက္ခပေးနိုင်သည်၊ ကောင်းစွာ ဆက်ဆံလိုကလည်း ကောင်းစွာဆက်ဆံနိုင်သည်" ဟူ၍ မိမိကြိုက်နှစ်သက်ရာ ပြုနိုင်ခွင့် ပြုတော်မူခဲ့၏။

အဘယ်ကြောင့်ဆိုသော် ဘုရင်၊ မင်း၊ သမ္မတ၊ ဥက္ကဋ္ဌ စသည့်အကြီးအကဲ အားလုံးတို့အား အလ္လာဟ်အရှင်မြတ်သည် အကောင်းနှင့်အဆိုး နှစ်ခု၊ ကြိုက်ရာပြုနိုင်စွမ်း ပေးထားတော်မူသည်။ ➤➤

قَالَ أَمَّا مَن ظَلَمَ فَسَوْفَ نُعَذِّبُهُۥ ثُمَّ يُرَدُّ إِلَىٰ رَبِّهِۦ فَيُعَذِّبُهُۥ عَذَابًا نُّكْرًا ﴿٨٧﴾

**၈၇။** ယင်းဇုလ်ကရ်နိုင်န်က (ထိုအမျိုးသားတို့အား ဤသို့) ပြောဆို (ကြေညာ) ခဲ့လေသည်။ (အချင်းတို့) အသင်တို့အနက် မည်သူမဆို မတရားပြုမြဲ ပြုနေခဲ့ပါလျှင် ကျွန်ုပ်သည် မကြာမြင့်မီပင် ထိုသူအား ပြစ်ဒဏ်စီရင်ပေမည်။ ထို့နောက် ထိုသူသည် မိမိအား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်အထံတော်သို့ ပြန်လည်၍ ရောက်စေခြင်းကို ခံရပေမည်။ ထိုအခါ ထိုအရှင်မြတ်သည် ၎င်းအား ပြင်းထန်သော ပြစ်ဒဏ်ကို စီရင်တော်မူပေလိမ့်မည်။

وَأَمَّا مَنْ ءَامَنَ وَعَمِلَ صَٰلِحًا فَلَهُۥ جَزَآءً ٱلْحُسْنَىٰ ۖ وَسَنَقُولُ لَهُۥ مِنْ أَمْرِنَا يُسْرًا ﴿٨٨﴾

**၈၈။** သို့ရာတွင် မည်သူမဆို သက်ဝင်ယုံကြည်၍ ကောင်းမြတ်သောအကျင့်သီလများကို ကျင့်မူဆောက်တည်ခဲ့ပါမူ ထိုသူ၏အဖို့ အကျိုးအားဖြင့် အကောင်းဆုံးသောအရာပင် ရှိပေမည်။ ထိုမှတစ်ပါး အမှန်ပင် ကျွန်ုပ်သည်လည်း မိမိ အမိန့်ထုတ်ပြန်ချက်တွင် နူးညံ့သောစကားကို ပြောဆိုပေအံ့သတည်း။

ثُمَّ أَتْبَعَ سَبَبًا ﴿٨٩﴾

**၈၉။** ထိုနောက် ယင်းဇုလ်ကရ်နိုင်န်သည် (အခြားသော) လမ်းတစ်ခုကို လိုက်ပြန်လေ၏။

حَتَّىٰٓ إِذَا بَلَغَ مَطْلِعَ ٱلشَّمْسِ وَجَدَهَا تَطْلُعُ عَلَىٰ قَوْمٍ لَّمْ نَجْعَل لَّهُم مِّن دُونِهَا سِتْرًا ﴿٩٠﴾

**၉၀။** နောက်ဆုံးတွင် ယင်းဇုလ်ကရ်နိုင်န်သည် နေထွက်ရာနေရာသို့ ရောက်ရှိခဲ့သောအခါ ထိုနေကို အကြင်လူမျိုးတစ်မျိုး၏အပေါ်၌ ထွက်နေဘိသကဲ့သို့ တွေ့ရှိခဲ့လေသည်။ ငါအရှင်မြတ်သည် ထိုလူမျိုး၏ ယင်းနေ၏ ဤမှာဘက်တွင် အကွယ်အကာတစ်စုံ တစ်ရာကိုမျှ ပြုလုပ်၍ပေးတော်မူခဲ့သည် မဟုတ်ချေ။ [၁]

---

➤➤ အကောင်းပြုက အကောင်းဖြစ်မည်၊ မကောင်းပြုက မကောင်းဖြစ်မည်။ အကောင်းပြုခြင်း၊ အဆိုးပြုခြင်းသည် သက်ဆိုင်ရာအကြီးအကဲတို့၏ အလုပ်သာဖြစ်ချေသည်။

(၁) **ဇုလ်ကရ်နိုင်န်၏ ဒုတိယခရီး။**

ဇုလ်ကရ်နိုင်န်သည် ဒုတိယအကြိမ် ကမ္ဘာ့အရှေ့ဖျားသို့ ခရီးထွက်ခဲ့၏။ ကမ္ဘာ့အရှေ့ဖျားတွင် ➤➤

၉၁။ (ဇုလ်ကရ်နိုင်န်၏ အထ္ထုပ္ပတ္တိအကြောင်းကား) ဤအတိုင်းပင်ဖြစ်၏။ စင်စစ်ကေန် ငါအရှင်မြတ်သည် ယင်း ဇုလ်ကရ်နိုင်န်ထံ၌ ရှိသမျှ(သော လက်နက် ကိရိယာအလုံးစုံ)တို့ကို တစ်ခုမကျန် သိရှိတော်မူပေ သတည်း။ [၁]

كَذٰلِكَ وَقَدْ أَحَطْنَا بِمَا لَدَيْهِ خُبْرًا ﴿٩١﴾

၉၂။ ထို့နောက် ယင်းဇုလ်ကရ်နိုင်န်သည် (အခြား သော)လမ်းတစ်ခုကို လိုက်ခဲ့ပြန်လေ၏။

ثُمَّ أَتْبَعَ سَبَبًا ﴿٩٢﴾

၉၃။ နောက်ဆုံးတွင်ယင်းဇုလ်ကရ်နိုင်န်သည် တောင် နှစ်လုံး၏အကြားသို့ ရောက်ရှိခဲ့သောအခါ ယင်းတောင် နှစ်လုံး၏ ဤမှာဘက်တွင် စကားနားမလည်နိုင်ကြ သော လူမျိုးတစ်မျိုးကို တွေ့ရှိခဲ့လေသည်။ [၂]

حَتّٰىٓ إِذَا بَلَغَ بَيْنَ السَّدَّيْنِ وَجَدَ مِنْ دُوْنِهِمَا قَوْمًا ۙ لَّا يَكَادُوْنَ يَفْقَهُوْنَ قَوْلًا ﴿٩٣﴾

---

➢➢ လူမျိုးတစ်မျိုးကို တွေ့ရှိခဲ့သည်။ ထိုလူမျိုးတို့သည် ထိုအချိန်အထိ တိရစ္ဆာန်များပမာ နေထိုင်၏။ ၎င်းတို့သည် စနစ်တကျ အိုးအိမ်ပင် မတည်ဆောက်တတ်ပေ။ ဝတ်စားဆင်ယင်မှု ကိုလည်း နားမလည်ပေ။ နေ၏အပူချိန်ကို ကာကွယ်နိုင်ရန်အတွက် ၎င်းတို့၌ အဆောက် အအုံလည်းမရှိပေ။ အဝတ်အစားလည်း မရှိပေ။ တိရစ္ဆာန်များကဲ့သို့ပင် နေထိုင်စားသောက်လျက် ရှိခဲ့၏။

① ကမ္ဘာ့အနောက်ဖျားနှင့် ကမ္ဘာ့အရှေ့ဖျားသို့ ဇုလ်ကရ်နိုင်န်သည် မည်သို့မည်ပုံ သွားခဲ့သည်၊ ခရီးတွင် မည်သည့်ကိစ္စရပ်များနှင့် တွေ့ကြုံရသည်များကို အလ္လာဟ်အရှင်မြတ်သည် အသိဆုံးပင်ဖြစ်တော်မူသည်။ ဇုလ်ကရ်နိုင်န်၏ ခရီးစဉ်နှင့်စပ်လျဉ်း၍ အချို့ရာဇဝင်ဆရာ တို့သည် မိမိတို့၏ ထင်မြင်ချက်များကို အမျိုးမျိုးရေးသားကောင်း ရေးသားကြပေမည်။ သို့ရာတွင် ၎င်းတို့၏ ရေးသားချက်များကား မမှန်ပေ၊ ကုရ်အာန်ကျမ်းမြတ်တွင် ပါရှိသောအရာသာလျှင် မှန်ပေသည်။

② **ဇုလ်ကရ်နိုင်န်၏ တတိယခရီး။**

ဇုလ်ကရ်နိုင်န်သည် ကမ္ဘာ့အနောက်ဖျား၊ အရှေ့ဖျားသို့ ခရီးထွက်ပြီးနောက် တတိယအကြိမ် ကမ္ဘာ့မြောက်ဖျားသို့ ခရီးထွက်ခဲ့၏။ ဇုလ်ကရ်နိုင်န်သည် တတိယအကြိမ်တွင် ကမ္ဘာ့မည်သည့်အရပ်ဒေသသို့ ခရီးထွက်ခဲ့သည့် အကြောင်းနှင့်စပ်လျဉ်း၍ ကုရ်အာန်နှင့် ဟဒီဆ်ကျမ်းများတွင် အတိအကျ မိန့်ဆိုထားတော်မူသည်မရှိ။ သို့တစေလည်း မဖတ်စ်စစ်ရ် အများစုကမူ ဇုလ်ကရ်နိုင်န်သည် တတိယအကြိမ်တွင် ကမ္ဘာ့မြောက်ဖျားသို့ ခရီးထွက်ခဲ့သည်ဟူ၍ပင် ယူဆကြသည်။

**ယာဂျူဂျ်နှင့် မာဂျူဂျ်၏ ဘေးရန်မှကာကွယ်ပေးခဲ့ခြင်း။**

ဇုလ်ကရ်နိုင်န်သည် တတိယအကြိမ် ခရီးထွက်ခဲ့သောအခါ တောင်ကြီးနှစ်လုံး၏စပ်ကြားသို့ ရောက်ရှိလာခဲ့၏။ ထိုတောင်နှစ်လုံး၏ဘေးတွင် လူမျိုးတစ်မျိုးကို တွေ့ရှိခဲ့၏။ ထိုလူမျိုးများသည် တောကျေးသားလူရိုင်းများ ဖြစ်ကြသည်သာမက အသိဉာဏ်အလွန်နည်းပါးလှသည့်အတွက် စကားကိုပင် ➢➢

၉၄။ ယင်းလူမျိုးတို့က အို-ဇုလ်ကရ်နိုင်န်၊ ဧကန် မလွဲ *ယအ်ဂျူဂျ်နှင့် မအ်ဂျူဂျ်*တို့သည် ¹ ဤအရပ် ဒေသတွင် ဆူပူသောင်းကျန်း လုယက်တိုက်ခိုက် ဖျက်ဆီးသူများပင် ဖြစ်ကြပါသည်။ သို့ပါ၍ အသင် သည် ကျွန်ုပ်တို့နှင့် ၎င်းတို့၏အကြားတွင် အကာ အကွယ်တစ်ခုကို ပြုလုပ်ပေးရန် ကျွန်ုပ်တို့သည် အသင့်အား ကုန်ကျစရိတ်ကို စုဆောင်း၍ ပေးကြရ ပါမည်လောဟု ပြောဆိုကြ၏။

قَالُوا يٰذَا الْقَرْنَيْنِ إِنَّ يَاجُوجَ وَمَاجُوجَ مُفْسِدُونَ فِي الْأَرْضِ فَهَلْ نَجْعَلُ لَكَ خَرْجًا عَلٰى أَنْ تَجْعَلَ بَيْنَنَا وَبَيْنَهُمْ سَدًّا ﴿٩٤﴾

---

▶▶ ကောင်းစွာနားမလည်ခဲ့ကြပေ။ ၎င်းတို့သည် စကားပြန်မှတဆင့် ဇုလ်ကရ်နိုင်န်နှင့် စကားပြောခဲ့ ကြဟန်တူသည်။

ထိုလူမျိုးများက ဇုလ်ကရ်နိုင်န်အား "ဤတောင်နှစ်လုံး၏ တစ်ဖက်တွင် 'ယာဂျူဂျ်'နှင့် 'မာဂျူဂျ်' ရှိပါသည်။ ကျွန်ုပ်တို့နှင့် ၎င်းတို့၏စပ်ကြားတွင် ဤတောင်နှစ်လုံး ခြားနေပါသည်။ သို့သော်လည်း ဤတောင် နှစ်လုံး၏စပ်ကြားတွင် တောင်ကြားလမ်းတစ်ခု ရှိနေပါသည်။ ယာဂျူဂျ်နှင့် မာဂျူဂျ်သည် ထိုတောင်ကြားလမ်းမှ လာ၍ ကျွန်ုပ်တို့အား အမျိုးမျိုး ဒုက္ခပေးကြပါသည်။ လုယက်တိုက်ခိုက် ကြပါသည်။ ထို့အတွက် ယာဂျူဂျ်နှင့် မာဂျူဂျ်၏ဘေးရန်မှ အမြဲတစေ ကင်းငြိမ်းနိုင်ရန်အလို့ငှာ အသင်(ဇုလ်ကရ်နိုင်န်)သည် ထိုတောင်ကြားလမ်းကို ပိတ်၍ပေးခဲ့ပါက၊ ကျွန်ုပ်တို့သည် ကုန်ကျစရိတ်ငွေကြေးကို စုဆောင်း၍ပေးကြပါမည်" ဟု ပြောဆိုမေတ္တာရပ်ခံ ခဲ့ကြလေသည်။

ထိုအခါ ဇုလ်ကရ်နိုင်န်က "ကျွန်ုပ်အား အလ္လာဟ်အရှင်မြတ်က ဥစ္စာပစ္စည်း အမြောက်အမြား ချီးမြှင့်ပေးသနားတော်မူပါသည်။ ကျွန်ုပ်အဖို့ ဥစ္စာပစ္စည်းအလိုမရှိပါ။ အသင်တို့၏ လုပ်အားသာ အလိုရှိပါသည်၊ အသင်တို့သည် ကျွန်ုပ်အား လုပ်အားဖြင့်သာ ကူညီကြပါ၊ ကျွန်ုပ်သည် ထိုတောင်ကြားလမ်းကို ပိတ်၍ အသင်တို့နှင့် ယာဂျူဂျ်၊ မာဂျူဂျ်တို့စပ်ကြားတွင် အလွန်ခိုင်ခံ့သော သံတံတိုင်းကြီးတစ်ခု လုပ်ပေးထားခဲ့ပါမည်" ဟု ဖြေကြားခဲ့လေသည်။

① **ယာဂျူဂျ်၊ မာဂျူဂျ်။**

ယာဂျူဂျ်၊ မာဂျူဂျ်သည် မည်သူများနည်း။ အဘယ်တိုင်းပြည်တွင် နေထိုင်ကြသနည်း။ ဇုလ်ကရ်နိုင်န် တည်ဆောက်ပေးခဲ့သော တံတိုင်းကြီး အဘယ်ဒေသတွင်ရှိသနည်း။ ဤသည့် အမေးပုစ္ဆာများနှင့် စပ်လျဉ်း၍ မှဖတ်စ်စစ်ရ်များသည် လည်းကောင်း၊ သမိုင်းဆရာတို့သည် လည်းကောင်း အဖြေအမျိုးမျိုးပေးကြရာ အဆိုကွဲပြားလျက် ရှိကြသည်။

ဤပြဿနာနှင့် စပ်လျဉ်း၍ မှဖတ်စ်စစ်ရ်များကလည်း အမျိုးမျိုးဆိုကြသည်၊ သမိုင်းဆရာတို့ကလည်း အမျိုးမျိုးရေးကြသည်။ ဤသည် ၎င်းတို့၏ ထင်မြင်ယူဆချက်များသာ ဖြစ်သည်။

ယာဂျူဂျ်၊ မာဂျူဂျ်နှင့်ပတ်သက်၍ လည်းကောင်း၊ ဇုလ်ကရ်နိုင်န် တည်ဆောက်ခဲ့သော သံတံတိုင်းကြီးနှင့် စပ်လျဉ်း၍လည်းကောင်း ကုရ်အာန်ကျမ်းမြတ်နှင့် ခိုင်လုံသော ဟဒီဆ်ကျမ်းကြီးများတွင် လာရှိသော ▶▶

قَالَ مَا مَكَّنِّي فِيهِ رَبِّي خَيْرٌ فَأَعِينُونِي بِقُوَّةٍ أَجْعَلْ بَيْنَكُمْ وَبَيْنَهُمْ رَدْمًا ﴿٩٥﴾

၉၅။ ယင်းဇုလ်ကရ်နိုင်န်က (၎င်းတို့အား ဤသို့ ပြောဆို ဖြေကြားခဲ့လေ၏။ (အချင်းတို့၊) ဤသည်နှင့် စပ်လျဉ်း၍ ကျွန်ုပ်၏အရှင်မြတ်က ကျွန်ုပ်အား ချီးမြှင့်တော်မူခဲ့သောစွမ်းအင်သည်ပင် အလွန်များပြားလှ၏။ သို့ဖြစ်ပေရာ အသင်တို့သည် ကျွန်ုပ်အား (မိမိတို့၏ လုပ်အားဖြင့်သာ ကူညီကြလေကုန်။ ကျွန်ုပ်သည် အသင်တို့နှင့် ၎င်းတို့၏အကြားဝယ် အလွန် ခိုင်ခံ့မြင့်မားသောတံတိုင်းကို ပြုလုပ်၍ ပေးမည်။

آتُونِي زُبَرَ الْحَدِيدِ ۖ حَتَّىٰ إِذَا سَاوَىٰ بَيْنَ الصَّدَفَيْنِ قَالَ انفُخُوا ۖ حَتَّىٰ إِذَا جَعَلَهُ نَارًا قَالَ آتُونِي أُفْرِغْ عَلَيْهِ قِطْرًا ﴿٩٦﴾

၉၆။ အသင်တို့သည် သံပြား (သံတို၊ သံစ၊ သံတုံး) များကိုသာ ကျွန်ုပ်ထံယူဆောင်ခဲ့ကြလေကုန်၊ နောက်ဆုံးတွင် တောင်နှစ်လုံးထိပ်ဖျားနှစ်ခု အကြားတွင် (ယင်းသံပြား၊ သံတိုသံစ၊ သံတုံးများကို) တညီတညွတ်တည်းဖြစ်အောင် ပြုလုပ်ခဲ့သောအခါ ယင်းဇုလ်ကရ်နိုင်န်က (အချင်းတို့၊ ယခု) အသင်တို့သည် (ယပ်ခတ်) လေမှုတ်ကြလေကုန်ဟု ပြောဆိုညွှန်ကြားခဲ့၏။

နောက်ဆုံးတွင် ယင်းသံပြားများကို (ရဲရဲတောက်) မီး(ခဲများ) ဖြစ်စေခဲ့သောအခါ (တစ်ဖန်) ယင်းဇုလ်ကရ်နိုင်န်က (အချင်းတို့) အသင်တို့သည် အရည်ကျိုထားသော ကြေးနီကို ကျွန်ုပ်တို့ထံ ယူခဲ့ကြလေကုန်။ (ယင်း အရည်ကျိုထားသောကြေးနီကို) ဤ(ရဲရဲတောက်လျက်ရှိသော) သံပြားပေါ်၌ ကျွန်ုပ် သွန်းလောင်းအံ့ဟု ပြောဆိုခဲ့လေ၏။

---

➤➤ အချက်အလက်၊ ပုံပန်းသဏ္ဌာန်၊ အခြေအနေ၊ အဖြစ်အပျက်၊ ထူးခြားချက်များကို ထောက်ထားဆင်ခြင်၊ ဝေဖန်ပိုင်းခြား စဉ်းစားပါက (ယာဂျူဂျ်၊ မာဂျူဂျ်၊ ဇုလ်ကရ်နိုင်န်၏ သံတံတိုင်းကြီးနှင့် စပ်လျဉ်း၍) ယခုအခါ ရေးသားဖော်ပြနေကြသော အဆိုများ ယူဆချက်များအနက် မည်သည့်အဆို၊ မည်သည့်ယူဆချက်ကိုမျှ မှန်သည်ဟူ၍ မဆိုနိုင်ပေ။

فَمَا اسْطَاعُوا أَن يَظْهَرُوهُ وَمَا اسْتَطَاعُوا لَهُ نَقْبًا ۝٩٧

**၉၇။** ထို(တံတိုင်းကြီးကို ပြုလုပ်၍ ပြီးစီးသော) အခါ ထို(ယအ်ဂျူဂျ်နှင့်မအ်ဂျူဂျ်)တို့မှာ ယင်းတံတိုင်းကြီးကို ကျော်တက်ခြင်းကိုလည်းကောင်း၊ ဖောက်ထွင်းခြင်းကိုလည်းကောင်း၊ မပြုစွမ်းနိုင်ခဲ့ကြချေ။

قَالَ هَٰذَا رَحْمَةٌ مِّن رَّبِّي ۖ فَإِذَا جَاءَ وَعْدُ رَبِّي جَعَلَهُ دَكَّاءَ ۖ وَكَانَ وَعْدُ رَبِّي حَقًّا ۝٩٨

**၉၈။** ထိုအခါ ယင်းဇုလ်ကရ်နိုင်န်က ဤသည်ကား ကျွန်ုပ်အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၏ ကရုဏာတော်ပင်တည်း။ တစ်ဖန် ကျွန်ုပ်အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ် ချိန်းချက်ထားတော်မူသော အချိန်ကာလ ဆိုက်ရောက်လာသောအခါ ထိုအရှင်မြတ်သည် ဤတံတိုင်းကို ဖြိုဖျက်တော်မူအံ့။ စင်စစ် ကျွန်ုပ်အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၏ ချိန်းချက်မှုသည် မှန်ကန်သောချိန်းချက်မှုပင်ဖြစ်သည်ဟု ပြောကြားခဲ့လေသတည်း။

وَتَرَكْنَا بَعْضَهُمْ يَوْمَئِذٍ يَمُوجُ فِي بَعْضٍ ۖ وَنُفِخَ فِي الصُّورِ فَجَمَعْنَاهُمْ جَمْعًا ۝٩٩

**၉၉။** စင်စစ်ကေန် ငါအရှင်မြတ်သည် ယင်း(ယအ်ဂျူဂျ်နှင့်မအ်ဂျူဂျ်လူမျိုး)တို့အနက် တစ်ဦးကို တစ်ဦး၏အပေါ်၌ လှိုင်းလိပ်ကဲ့သို့ပင် တိုးဝှေ့ထပ်ဆင့်လျက် ရှိစေတော်မူပေမည်။ ၎င်းပြင် တံပိုးခရာမှုတ်ပြီးသော အခါ ငါအရှင်မြတ်သည် ၎င်းတို့အားလုံးကို စုရုံးတော်မူပေမည်။

وَعَرَضْنَا جَهَنَّمَ يَوْمَئِذٍ لِّلْكَافِرِينَ عَرْضًا ۝١٠٠

**၁၀၀။** ထိုမှတစ်ပါး ငါအရှင်မြတ်သည် ထိုနေ့တွင် ဂျဟန္နမ်ငရဲဘုံကို ကာဖိရ် သွေဖည်ငြင်းပယ်ကြကုန်သောသူတို့ရှေ့ဝယ် အထင်အရှား ပြတော်မူပေမည်။

الَّذِينَ كَانَتْ أَعْيُنُهُمْ فِي غِطَاءٍ عَن ذِكْرِي وَكَانُوا لَا يَسْتَطِيعُونَ سَمْعًا ۝١٠١

**၁၀၁။** အကြင် (ကာဖိရ် သွေဖည်ငြင်းပယ်သော)သူတို့သည် ထိုသူတို့၏မျက်စိများမှာ ငါအရှင်မြတ်အား အောက်မေ့သတိရခြင်းမှ ဖုံးအုပ်လျက်ပင် ရှိခဲ့ကြ၏။ ထို့ပြင် ၎င်းတို့သည် (ယင်းကုရ်အာန်ကျမ်းမြတ်တော်ကို နားဝင်အောင်) နားထောင်နိုင်ခြင်းလည်း မရှိခဲ့ကြချေ။

أَفَحَسِبَ الَّذِينَ كَفَرُوا أَن
يَتَّخِذُوا عِبَادِي مِن
دُونِي أَوْلِيَاءَ ۚ إِنَّا أَعْتَدْنَا
جَهَنَّمَ لِلْكَافِرِينَ نُزُلًا ﴿١٠٢﴾

**၁၀၂။** သို့ပါလျက် ကာဖိရ် သွေဖည်ငြင်းပယ်သော သူတို့က ၎င်းတို့သည် ငါအရှင်မြတ်အား စွန့်၍ ငါ အရှင်မြတ်၏ကျွန်များကို (မိမိတို့၏) ကိုးကွယ်ရာများ ပြုလုပ်ခဲ့ကြမည်ဟု ထင်မှတ်ကြလေသလော။ (သို့ဖြစ် လျှင်) ဧကန်စင်စစ် ငါအရှင်မြတ်သည် ဂျဟန္နမ်ငရဲဘုံ ကို ကာဖိရ် သွေဖည်ငြင်းပယ်သောသူတို့အဖို့ ဧည့်ခံရာ ဌာနအဖြစ် အဆင့်သင့်ပြုလုပ်၍ ထားရှိတော်မူပြီး ဖြစ်(ကြောင်း၊ ကောင်းစွာ မှတ်ယူအပ်ကြ)ပေသည်။

قُلْ هَلْ نُنَبِّئُكُم بِالْأَخْسَرِينَ
أَعْمَالًا ﴿١٠٣﴾

**၁၀၃။** (အို-နဗီတမန်တော်) အသင်သည် (၎င်းတို့ အား အချင်းတို့၊) ငါသည် အသင်တို့အား အကျင့်အမူ အားဖြင့် လုံးဝဆုံးရှုံးသောသူတို့နှင့်ပတ်သက်၍ အသင် တို့အား အသိပေးရမည်လောဟု ပြောကြားပါလော။

الَّذِينَ ضَلَّ سَعْيُهُمْ فِي
الْحَيَاةِ الدُّنْيَا وَهُمْ يَحْسَبُونَ
أَنَّهُمْ يُحْسِنُونَ صُنْعًا ﴿١٠٤﴾

**၁၀၄။** (ထိုသူကား) အကြင်သူများ ပင်တည်း။ [၎င်းတို့၏ (ကောင်းမှု ကုသိုလ်များနှင့်စပ်လျဉ်းသော) ကြိုးပမ်း ဆောင်ရွက်မှုသည် လောကီဘဝ၌ပင် အချည်းနှီး ဖြစ်ခဲ့ရလေပြီ၊] [(တစ်နည်း:) ၎င်းတို့၏ လောကီဘဝနှင့်စပ်လျဉ်းသော ကြိုးပမ်းဆောင်ရွက်မှု သည် အချည်းနှီးပင် ဖြစ်ခဲ့လေပြီ၊] [(တစ်နည်း:) ၎င်းတို့၏ ကြိုးပမ်းဆောင်ရွက်မှုသည် လောကီရေး၌ ပင် ပျက်ပြုန်းခဲ့ရချေပြီ၊] သို့ပါလျှက် ၎င်းတို့သည် ဧကန်အမှန် မိမိတို့မှာ ကောင်းမြတ်သောအပြုအမူများ ကိုပင် ပြုလုပ်နေကြသည်ဟု ထင်မှတ်ကြ၏။

أُولَٰئِكَ الَّذِينَ كَفَرُوا بِآيَاتِ
رَبِّهِمْ وَلِقَائِهِ

**၁၀၅။** ဤသူများပင် အကြင်သူများတည်း။ ထိုသူတို့ သည် မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၏ သက်သေလက္ခဏာတော်များကိုလည်း ကောင်း၊ ထိုအရှင်မြတ်နှင့် တွေ့ဆုံကြရမည်ကိုလည်း ကောင်း၊ ငြင်းပယ်ခဲ့ကြလေသည်။

فَحَبِطَتْ أَعْمَالُهُمْ فَلَا نُقِيمُ لَهُمْ يَوْمَ الْقِيَامَةِ وَزْنًا ﴿١٠٥﴾

သို့ဖြစ်ပေရာ ၎င်းတို့၏ အကျင့်အမူများမှာ အချည်းနှီးပင် ဖြစ်ခဲ့ကြပေသည်။ သို့ဖြစ်ပေရာ ငါအရှင်မြတ်သည်လည်း ကိယာမတ် ရှင်ပြန်ထမည့် နေ့တွင် မည်သည့်အလေးချိန်ကိုမျှပင် ၎င်းတို့အဖို့ သတ်မှတ်၍ ပေးတော်မူမည် မဟုတ်ပေ။

ذَٰلِكَ جَزَاؤُهُمْ جَهَنَّمُ بِمَا كَفَرُوا وَاتَّخَذُوا آيَاتِي وَرُسُلِي هُزُوًا ﴿١٠٦﴾

**၁၀၆။** ဤသည် (ဝါ) ဂျဟန္နမ်ငရဲဘုံသည်ပင် ၎င်းတို့၏အကျိုးတည်း။ အဘယ်ကြောင့်ဆိုသော် ထိုသူတို့ကား သွေဖည်ငြင်းပယ်ခဲ့ကြသည့်ပြင် ငါအရှင်မြတ်၏သက်သေလက္ခဏာများကိုလည်းကောင်း၊ ငါအရှင်မြတ်၏ရစူလ်တမန်တော်များကိုလည်းကောင်း၊ ပြက်ရယ်ဖွယ်ရာများလည်း ပြုလုပ်ခဲ့ကြသောကြောင့်ပင်။

إِنَّ الَّذِينَ آمَنُوا وَعَمِلُوا الصَّالِحَاتِ كَانَتْ لَهُمْ جَنَّاتُ الْفِرْدَوْسِ نُزُلًا ﴿١٠٧﴾

**၁၀၇။** ဧကန်မလွဲ အကြင်သူတို့သည် သက်ဝင်ယုံကြည်ခဲ့ကြကုန်၏။ ၎င်းပြင် ထိုသူတို့သည် ကောင်းမြတ်သော အကျင့်သီလများကိုလည်း ကျင့်မူဆောက်တည်ခဲ့ကြကုန်၏။ ထိုသူတို့အဖို့ ဖစ်ရ်ဒေါက်စ်တည်းဟူသောဥယျာဉ်သည် ဧည့်ခံရာဌာနအဖြစ် (အဆင်သင့်) ရှိကြပေသတည်း။

خَالِدِينَ فِيهَا لَا يَبْغُونَ عَنْهَا حِوَلًا ﴿١٠٨﴾

**၁၀၈။** (ထိုသူတို့သည်) ယင်းဥယျာဉ်တွင် ထာဝစဉ် နေထိုင်သူများအဖြစ် (ဝင်ရောက်နေထိုင်ကြရပေမည်၊) ထိုသူတို့သည် ယင်းဥယျာဉ်များမှ လုံးဝ ရွှေ့ပြောင်းလိုကြမည် မဟုတ်ပေတကား။

قُلْ لَوْ كَانَ الْبَحْرُ مِدَادًا لِكَلِمَاتِ رَبِّي

**၁၀၉။** (အို-နဗီတမန်တော်) အသင်သည် (၎င်းတို့အား ဤသို့) ပြောကြားပါလေ။ (အချင်းတို့) အကယ်၍ ငါ့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၏ အာယတ်တော်များ(ကို ရေးသားရန်)အလို့ငှာ သမုဒ္ဒရာပင်လယ်(အားလုံးတို့)သည်ပင် မင်ရည်များ ဖြစ်ခဲ့အံ့ငြား

لَنَفِدَ الْبَحْرُ قَبْلَ أَنْ تَنْفَدَ كَلِمٰتُ رَبِّيْ وَلَوْ جِئْنَا بِمِثْلِهٖ مَدَدًا ﴿١٠٩﴾

သော်လည်း၊ ၎င်းပြင် အကယ်၍ ငါတို့သည် ယင်းပင်လယ်များကဲ့သို့ (အခြားပင်လယ်များ)ကိုပင် အကူအညီအဖြစ် (ထပ်မံ၍) ယူခဲ့အံ့ငြားသော်လည်း ငါ့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၏ အာယတ်တော်များကား ကုန်ဆုံးခြင်းမရှိဘဲ၊ (ထိုထိုသော) သမုဒ္ဒရာ ပင်လယ်များသည်သာလျှင် ကုန်ခန်း၍ သွားအံ့သတည်း။ ၁

قُلْ إِنَّمَا أَنَا بَشَرٌ مِّثْلُكُمْ يُوْحٰى إِلَيَّ أَنَّمَا إِلٰهُكُمْ إِلٰهٌ وَّاحِدٌ فَمَنْ كَانَ يَرْجُوْا لِقَاءَ رَبِّهٖ فَلْيَعْمَلْ عَمَلًا صَالِحًا وَّلَا يُشْرِكْ بِعِبَادَةِ رَبِّهٖٓ أَحَدًا ﴿١١٠﴾

**၁၁၀။** (အို-နဗီတမန်တော်) အသင်သည် (၎င်းတို့အား ဤသို့)ပြောကြားပါလေ။ (အချင်းတို့) ငါသည် အသင်တို့ကဲ့သို့ပင် လူသားတစ်ဦးမျှသာလျှင် ဖြစ်သည်။ အသင်တို့၏ ကိုးကွယ်ရာအရှင်မြတ်သည် တစ်ဆူတည်းသော ကိုးကွယ်ရာအရှင်မြတ်ပင် ဖြစ်တော်မူကြောင်း၊ ငါ့ထံသို့ ဝဟ်ယ်အမိန့်တော် ကျရောက်လာ(ခြင်းသည်သာလျှင် ငါ၏ထူးခြားချက် ဖြစ်)ချေသည်။

---

(၁) ဆက်စပ်မှုတွင် ရေးသားဖော်ပြခဲ့သည့်အတိုင်း ယဟူဒီများ၏ ညွှန်ကြားချက်အရ ကိုရိုက်ရှ်မျိုးနွယ်ဝင်များသည် တမန်တော်မြတ်အား ရှုဟ်၊ အတ်ဆ်ဟာဗိကဟ်ဖ်၊ ဇုလ်ကရ်နိုင်န်နှင့်ပတ်သက်၍ မေးမြန်းခဲ့ကြ၏။ ဤကဟ္ဖ၏ အစတွင် အတ်ဆ်ဟာဗိကဟ်ဖ်၏ အကြောင်းကို မိန့်ဆိုထားတော်မူ၏။ ဤကဟ္ဖ၏အဆုံးတွင် ဇုလ်ကရ်နိုင်န်၏ အကြောင်းကို မိန့်ဆိုထားတော်မူ၏။ "ရှုဟ်"နှင့်စပ်လျဉ်း၍ ဖြေကြားရာတွင် ကုရ်အာန်(၁၇း၈၅)တွင် "အသင်တို့ ချီးမြှင့်ခြင်းခံရသော အသိပညာမှာ အနည်းငယ်မျှသာဖြစ်သည်" ဟု မိန့်ဆိုထားတော်မူ၏။

အလ္လာဟ်အရှင်မြတ်သည် အလုံးစုံကိုသိတော်မူသော ဉာဏ်တော်ရှင်ဖြစ်တော်မူသည်၊ ထိုအရှင်မြတ်၏ အာယတ်တော်များသည် အနန္တော အနန္တဖြစ်သည်။ လူသားတို့အား လိုအပ်သမျှ ချီးမြှင့်ထားတော်မူသော အသိပညာမှာ အနည်းငယ်မျှသာဖြစ်သည်။ လူသားတို့ချီးမြှင့်ခြင်းခံရသော အသိပညာသည် အလ္လာဟ်အရှင်မြတ်၏ အလုံးစုံကိုသိတော်မူသော ဉာဏ်တော်နှင့် အလျှင်း မနှိုင်းယှဉ်အပ်ပေ။ သမုဒ္ဒရာနှင့် ရေတစ်စက်ပမာ ကွာခြားခြင်းကြီးမက ကွာခြားလျက်ရှိပေသည်။

အကယ်၍ သမုဒ္ဒရာကို မင်ရည်ဖျော်၍ သစ်ပင်ကြီးငယ်တို့ကို ကလောင်လုပ်ပြီး အလ္လာဟ်အရှင်မြတ်၏ အာယတ်တော်များကို ရေးမှတ်ပါကလည်း ကုန်ဆုံးမည်မဟုတ်ပေ၊ လက်ရှိသမုဒ္ဒရာအပြင် အလားတူ(အခြား) သမုဒ္ဒရာများရှိသေးပါက ယင်းသည့် သမုဒ္ဒရာများကိုပါ မင်ရည်ဖျော်၍ အာယတ်တော်များကို ရေးမှတ်ပါသော်လည်း မင်ရည်များသာ ကုန်သွားပေမည်၊ အာယတ်တော်များကား အလျှင်းကုန်ဆုံးမည် မဟုတ်ပေ။ ဤသည့်သဘောကို ကုရ်အာန် (၃၁း၂၇)တွင်လည်း မိန့်ဆိုထားတော်မူသည်။ ➢➢

သို့ဖြစ်ပေရာ မိမိအား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်နှင့် တွေ့ဆုံရန် မျှော်လင့်လျက်ရှိသောသူသည် ကောင်းမြတ်သော အကျင့်သီလများကို ကျင့်မူဆောက်တည်ရပေမည်။ ၎င်းပြင် ထိုသူသည် မိမိအား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်အား ခဝပ်ကိုးကွယ်ရာ၌ မည်သူတစ်ဦးတစ်ယောက်ကိုမျှပင် တွဲဖက်ယှဉ်တွဲ (ကိုးကွယ်)ခြင်း မပြုရချေ။ [၁]

---

➢➢ သို့ဖြစ်ပေရာ အလုံးစုံကို သိတော်မူသော ဉာဏ်တော်ရှင် ပြုစုစီရင် ထားတော်မူသော အရာများကို အသိဉာဏ် အလွန်နည်းသော၊ အမြင်အလွန်ကျဉ်းသော၊ အတွေးအခေါ် အလွန်တိမ်သော လူသားတို့သည် အသို့လျှင် ၎ုံမိနိုင်အံ့နည်း။ လူသားတစ်ဦးသည် အဘယ်မျှပင် ကြီးမားများပြားသော အသိပညာများကို ချီးမြှင့်ခြင်း ခံရစေကာမူ ယင်းသည့် အသိပညာများသည် အလ္လာဟ်အရှင်မြတ်၏ အလုံးစုံကို သိတော်မူသော ဉာဏ်တော်ရှေ့မှောက်တွင်ကား အနည်းငယ် စိုးစဉ်းမျှသာ ဖြစ်ပေသည်။

(၁) အထက်တွင် အလ္လာဟ်အရှင်မြတ်သည် အလုံးစုံကို သိတော်မူသော ဉာဏ်တော်ရှင် ဖြစ်တော်မူကြောင်း ထိုအရှင်မြတ်၏ အာယတ်တော်များမှာ အနန္တော အနန္တဖြစ်ကြောင်း မိန့်ဆိုထားတော်မူ၏။ ဤအာယတ်တော်တွင် အလ္လာဟ်အရှင်မြတ်က တမန်တော်မြတ်အား ဟောကြားစေတော်မူသည်မှာ "ကျွန်ုပ်သည်လည်း အသင်တို့ကဲ့သို့ပင် လူသားတစ်ဦးမျှသာဖြစ်သည်၊ ကိုးကွယ်ရာအရှင်မဟုတ်၊ အလုံးစုံကို သိတော်မူသော ဉာဏ်တော်ရှင်မဟုတ်၊ သို့ရာတွင် ထူးခြားချက်တစ်ရပ်မှာ ထိုအရှင်မြတ်ထံတော်မှ ကျွန်ုပ်ထံသို့ ဝဟီ အာယတ်တော်များ ကျရောက်ခြင်းပင်ဖြစ်သည်။

ယင်းသည့် အာယတ်တော်များတွင် အဓိကအချုပ်မှာ "တောင်ဟီဒ်" ခေါ် တစ်ဆူတည်းသော အလ္လာဟ်အရှင်မြတ်အားသာ ယုံကြည်ကိုးကွယ်ခြင်းပင်ဖြစ်သည်။ ကျွန်ုပ်သည် အားလုံးတို့အား ထိုအရှင်မြတ်ထံတော်သို့ လှည့်ကြရန် ဖိတ်ခေါ်သည်။ အလ္လာဟ်အရှင်မြတ်အား ဖူးတွေ့လိုသူများ၊ ထိုအရှင်မြတ်၏ ရှေ့တော်မှောက်သို့ ဝင်ရောက်ရမည်ကို စိုးကြောက်သူများသည် ထိုအရှင်မြတ်၏ တမန်တော်၏ ညွှန်ကြားပြသချက်များနှင့်အညီ ကောင်းမြတ်သော အကျင့်သီလများကို ဆောက်တည်ကြရမည်။

ထိုအရှင်မြတ်အား ခဝပ်ကိုးကွယ်ရာတွင် အဘယ်တစ်စုံတစ်ရာကိုမျှ အဘယ်အဆင့်အတန်း၌မျှ ယှဉ်တွဲကိုးကွယ်မှုကို အလျှင်းမပြုရ။ ဆိုလိုသည်ကား အကျင့်သီလဟူဟူသမျှတို့ကို အလ္လာဟ်အရှင်မြတ် တစ်ပါးတည်းအဖို့သာ စေတနာဖြူစင်စွာဖြင့် ဆောက်တည်ရမည်၊ ယင်းသို့ ဆောက်တည်ရာတွင် ပြစားမှု အလျှင်း မရှိစေရ၊ ရှစ်ရိက်၏ အနံ့အသက် အလျှင်းမရှိစေရ။ အဘယ်ကြောင့်ဆိုသော် ပြစားမှုသည်လည်း ရှရစ်က် ယှဉ်တွဲကိုးကွယ်မှု အငယ်စားပင်ဖြစ်သည်။

# မရ်ယမ်သခင်မ ကဏ္ဍ

سُورَةُ مَرْيَمَ

ဤကဏ္ဍသည် စူရဟ်မရ်ယမ်မည်၏။ မက္ကာမြို့၌ ကျရောက်၏။
ဤကဏ္ဍတွင် အာယတ်တော်-(၉၈)၊ ရူကုအ်အပိုဒ်-(၆) အသီးသီးပါရှိ၏

بِسْمِ اللَّهِ الرَّحْمَٰنِ الرَّحِيمِ

အနန္တဂရုဏာတော်ရှင် ဖြစ်တော်မူသော မပြတ်မစဲ သနားကြင်နာတော်မူသော အလ္လာဟ်အရှင်မြတ်၏ နာမံတော်ဖြင့် အစပြုပါ၏။

كٓهيعٓصٓ ﴿١﴾

၁။ *ကာဖ်၊ ဟာ၊ ယာ၊ အိုင်န်၊ ဆွာဒ်။* [၁]

ذِكْرُ رَحْمَتِ رَبِّكَ عَبْدَهُۥ زَكَرِيَّآ ﴿٢﴾

၂။ ဤသည်ကား အသင့်အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်က မိမိကျွန်(*နဗီတမန်တော်*) *ဇကရီယာ* [၂] ၏အပေါ်၌ ကရုဏာပြုတော်မူခဲ့ခြင်းကို ထုတ်ဖော် မြွက်ဟတော်မူခြင်းပင်တည်း။

إِذْ نَادَىٰ رَبَّهُۥ نِدَآءً خَفِيًّا ﴿٣﴾

၃။ (ပြန်လည် အောက်မေ့ သတိရကြလေကုန်။) တစ်ရံရောအခါဝယ် ထိုဇကရီယာသည် မိမိအား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်ကို လျှို့ဝှက်စွာ ပန်ကြားခဲ့လေသည်။

---

(၁) ဤကုရ်အာန်ကျမ်းမြတ်၌ ဤကဏ္ဍ(၁၉)၏အစတွင် အနက်အဓိပ္ပါယ် လျှို့ဝှက်ထားသော သင်္ကေတ အက္ခရာစုများကို တွေ့ရှိရသည်။ ယင်းသို့သော အက္ခရာစုများကို "ဟုရူဖ်မုကတ်တွအဟ်"ဟု ခေါ်သည်။ မုဖတ်စ်စစ်ရ်များသည် ယင်းသို့သော အက္ခရာများနှင့် စပ်လျဉ်း၍ အမျိုးမျိုးဖွင့်ဆို ရေးသားကြသည်။ အမှန်ကို အလ္လာဟ်အရှင်မြတ်သာလျှင် အသိဆုံးဖြစ်တော်မူသည်။

(၂) **တမန်တော် ဇကရီယာ။**

တမန်တော် ဇကရီယာသည် အစ္စရာအီလီ မျိုးနွယ်များထံသို့ ပွင့်ခဲ့သော တမန်တော်များတွင် ကျော်ကြား၊ တန်ခိုးကြီးမားသော တမန်တော်တစ်ပါးဖြစ်သည်။ တမန်တော်ဇကရီယာသည် မရ်ယမ်သခင်မအား ငယ်ရွယ်စဉ်က ကြည့်ရှုထိန်းသိမ်းခဲ့သည်။

တမန်တော် ဇကရီယာအကြောင်း ကုရ်အာန်ကျမ်းမြတ် (၃း ၃၆-၄၀။ ၆း ၈၆။ ၁၉း၂-၁၁။ ၂၁း ၈၉-၉၀) တွင် တွေ့ရှိရသည်။

قَالَ رَبِّ إِنِّي وَهَنَ الْعَظْمُ مِنِّي وَاشْتَعَلَ الرَّأْسُ شَيْبًا وَلَمْ أَكُنْ بِدُعَائِكَ رَبِّ شَقِيًّا ④

၄။ (တစ်ဖန်) ယင်းဇကရီယာသည် (ဤသို့) လျှောက်ထားပန်ကြားခဲ့လေသည်။ အို-ကျွန်တော်မျိုးအား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်၊ ဧကန်စင်စစ် ကျွန်တော်မျိုး၏အရိုးများမှာ အားအင်ချည့်နဲ့၍နေပါပြီ။ ၎င်းပြင် (ကျွန်တော်မျိုး၏)ဦးခေါင်းမှာလည်း ဆံဖြူများကြောင့် (ဖြူဖွေး)တောက်ပလျက်ရှိနေပါပြီ။ အို-ကျွန်တော်မျိုးအား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၊ စင်စစ် ကျွန်တော်မျိုးသည် အရှင်မြတ်အား ဟစ်ခေါ်တမ်းတ လျှောက်ထားပန်ကြားမှုကြောင့် မည်သည့်အခါကမျှ အလိုဆန္ဒ မပြည့်ဝသူ မဖြစ်ခဲ့ဘူးပါ။

وَإِنِّي خِفْتُ الْمَوَالِيَ مِنْ وَرَائِي وَكَانَتِ امْرَأَتِي عَاقِرًا فَهَبْ لِي مِنْ لَدُنْكَ وَلِيًّا ⑤

၅။ ဧကန်စင်စစ် ကျွန်တော်မျိုးသည် မိမိ (မရှိသည့်)နောက်တွင် (မိမိ)ဆွေမျိုးနီးစပ်သူတို့နှင့်ပတ်သက်၍ စိုးရိမ်မိခဲ့ပါသည်။ ထို့ပြင် ကျွန်တော်မျိုး၏ဇနီးမှာလည်း သားသမီးမထွန်းကားသော အမြုံပင်ဖြစ်နေပါသည်။ သို့ဖြစ်ပါ၍ အရှင်မြတ်သည် ကျွန်တော်မျိုးအား မိမိအထံတော်မှ *သားကောင်းရတနာ အမွေစားအမွေခံတစ်ဦးကိုချီးမြှင့်ပေးသနားတော်မူပါ၊* [၁]

---

(၁) တမန်တော်ဇကရီယာသည် သက်ရွယ်ကြီးပြင်း၍ အိုမင်းရင့်ရော်ဆံဖြူသော် သာသနာတော်၏ နောင်ရေးကို တွေးဆမိ၏။ မိမိကွယ်လွန်သေဆုံးပြီးနောက် တမန်တော်ယအ်ကူဗ်၏ သာသနာ့အမွေ၊ တမန်တော် ယအ်ကူဗ်၏ သားမြေးတို့၏ သာသနာ့အမွေ၊ မိမိ၏သာသနာ့အမွေသည် အသို့ရှိချိမ့်မည်နည်းဟု စဉ်းစားဆင်ခြင်မိ၏။

မိမိမရှိပြီးနောက် မိမိ၏အမွေစားအမွေခံ သားချင်းနီးစပ်သူတို့သည် ယင်းသည့် မွန်မြတ်လှသော သာသနာ့အမွေကို မိမိတို့၏ မိုက်မဲမှု၊ ဆိုးသွမ်းမှု၊ လမ်းမှားမှုများကြောင့် ပျက်ပြားသွားစေကြမည်ကိုလည်း စိုးရိမ်ကြောင့်ကြမိ၏။

အကြောင်းအားလျော်စွာ မိမိ၏ဇနီးမှာလည်း အမြုံဖြစ်နေ၏။ မိမိကိုယ်တိုင်လည်း ဇယာဒုဗ္ဗလအရွယ်သို့ ရောက်ရှိနေပြီဖြစ်၏။ အမြင်အားဖြင့် သားသမီးရရန် အကြောင်းလည်းမရှိ၊ ထိုအခါ တမန်တော် ဇကရီယာသည် အလ္လာဟ်အရှင်မြတ် ထံတော်၌ သာသနာ့အမွေကို ဆက်ခံနိုင်မည့် အရှင်နှစ်မြို့တော်မူသည့် သားကောင်း ရတနာတစ်ပါး ပေးသနားတော်မူပါမည့်အကြောင်း ဆုတောင်းပတ္ထနာ ပြုလေသည်။

يَّرِثُنِيْ وَيَرِثُ مِنْ اٰلِ يَعْقُوْبَ ۖ وَاجْعَلْهُ رَبِّ رَضِيًّا ۝٦

၆။ ထိုသားရတနာ၊ အမွေစား အမွေခံသည် ကျွန်တော်မျိုး၏ အရိုက်အရာဆက်ခံသူလည်း ဖြစ်ပါစေ။ (နဗီတမန်တော်)ယအ်ကူဗ်၏ သားမြေးတို့၏ အရိုက်အရာဆက်ခံသူလည်း ဖြစ်ပါစေ။ ထိုမှတစ်ပါး အို- ကျွန်တော်မျိုးအား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၊ အရှင်မြတ်သည် ၎င်းအား (မိမိအထံတော်၌) နှစ်မြို့ဖွယ်ရာလည်း ဖြစ်ပါစေ။

يٰزَكَرِيَّآ اِنَّا نُبَشِّرُكَ بِغُلٰمِ ِۨاسْمُهٗ يَحْيٰى ۙ لَمْ نَجْعَلْ لَّهٗ مِنْ قَبْلُ سَمِيًّا ۝٧

၇။ (ထိုအခါ အလ္လာဟ်အရှင်မြတ်သည် ဤသို့ ပြန်ကြားတော်မူခဲ့၏)။ အို-ဇကရီယာ၊ ကေန်မလွဲ ငါအရှင်မြတ်သည် အသင့်အား "ယဟ်ယာ"မည်သော[၁] သားရတနာတစ်ပါးနှင့်ပတ်သက်၍ သတင်းကောင်း ပေးတော်မူ၏။ ယခင်က ငါအရှင်မြတ်သည် ယင်း ယဟ်ယာနှင့် နာမည်တူသူ တစ်ဦးတစ်ယောက်ကို ရှိစေတော်မူခဲ့သည် မဟုတ်ချေ။

قَالَ رَبِّ اَنّٰى يَكُوْنُ لِيْ غُلٰمٌ وَّكَانَتِ امْرَاَتِيْ عَاقِرًا وَّقَدْ بَلَغْتُ مِنَ الْكِبَرِ عِتِيًّا ۝٨

၈။ (ထိုအခါ) ယင်းဇကရီယာက (ဤသို့)လျှောက် ထားပန်ကြားခဲ့လေသည်။ အို-ကျွန်တော်မျိုးအား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၊ ကျွန်တော်မျိုး၌ သားရတနာသည် အသို့လျှင် ရှိနိုင်ပါအံ့နည်း။ အကြောင်းသော်ကား ကျွန်တော်မျိုး၏ဇနီးမှာလည်း သားသမီးမမွေးသောအမြုံဖြစ်နေပါသည်။ ကျွန်တော်မျိုးမှာလည်း သက်ရွယ်ကြီးရင့် အိုမင်းခြင်း၏ အထွတ်အထိပ်သို့ ရောက်ရှိနေပါပြီ။

---

(၁) **တမန်တော်ယဟ်ယာ။**

အလ္လာဟ်အရှင်မြတ်သည် တမန်တော် ဇကရီယာ၏ ဆုပန်ကြားချက်ကို လက်ခံသဘောတူတော်မူ၍ သားတော်တစ်ပါး ရရှိမည့်အကြောင်း ကောင်းချီးသတင်းပေးတော်မူ၏။ ထိုသားတော်၏အမည်ကိုလည်း သားတော်မဖွားမီကပင် 'ယဟ်ယာ' ဟူ၍ သတ်မှတ်ပေးတော်မူ၏။ "ယဟ်ယာ"ဟူသော အမည်သည် အမည်ထူး ဖြစ်၏၊ ယခင်က ယင်းအမည်ကို တစ်ဦးတစ်ယောက်မျှ မမှည့်ဖူးခဲ့သေးချေ။ ➢➢

قَالَ كَذٰلِكَ ۚ قَالَ رَبُّكَ هُوَ عَلَيَّ هَيِّنٌ وَّقَدْ خَلَقْتُكَ مِنْ قَبْلُ وَلَمْ تَكُ شَيْـًٔا ⑨

၉။ (ထိုရောကာလ) ထိုအရှင်မြတ်က (ကောင်းကင်တမန်မှတစ်ဆင့် ဤသို့)မိန့်ကြားတော်မူခဲ့လေသည်။ ဤအတိုင်းပင် ဖြစ်ပေမည်။ (အို-ဇကရီယာ) အသင့်အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်က ဤသည် ငါအရှင်မြတ်အဖို့ အလွန်လွယ်ကူကြောင်း၊ ၎င်းပြင် ဇကန်မလွဲ ငါအရှင်မြတ်သည်ပင် ယခင်ကလည်း အသင့်အား အသင် တစ်စုံတစ်ရာမရှိခဲ့စဉ်က ဖန်ဆင်းတော်မူခဲ့ကြောင်း မိန့်ကြားတော်မူလေသတည်း။

قَالَ رَبِّ اجْعَلْ لِّيْٓ اٰيَةً ۭ قَالَ اٰيَتُكَ اَلَّا تُكَلِّمَ النَّاسَ ثَلٰثَ لَيَالٍ سَوِيًّا ⑩

၁၀။ (ထိုအခါ) ယင်းဇကရီယာက အို-ကျွန်တော်မျိုးအား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၊ (သို့ဖြစ်ပါလျှင်) အရှင်မြတ်သည် (ကျွန်တော်မျိုး၏ ဇနီးမှာ သားရတနာကို ကိုယ်ဝန်ဆောင်လျက် ရှိနေကြောင်း သိနိုင်အံ့သောငှာ) သက်သေလက္ခဏာ တစ်ရပ်ရပ်ကို ကျွန်တော်မျိုးအား ပြုလုပ်သတ်မှတ်၍ ပေးတော်မူပါဟု လျှောက်ထား ပန်ကြားပြန်လေ၏။ (သို့ဖြစ်ပေရာ) ထိုအရှင်မြတ်က (အို-ဇကရီယာ) အသင်သည် သုံးညဥ့်တိတိ(တစ်ဆက်တည်း) လူတို့နှင့် စကားမပြောနိုင်ခြင်းသည်ပင် အသင့်အဖို့ (အသင်၏ ဇနီး၌ ကိုယ်ဝန်ရှိနေကြောင်း) သက်သေလက္ခဏာ ဖြစ်သည်ဟူ၍ မိန့်ကြားတော်မူခဲ့ပေသတည်း။

---

➤➤ အချို့မှဖတ်စစ်စစ်ရ်များက "စမီယန်" ဟူသောပုဒ်သည် အလားတူဂုဏ်ရည်တူ ဟူသောအနက်၌ ဖြစ်သည်ဟုဆိုကြသည်။ ဆိုလိုသည်ကား-ထိုသားတော်ကဲ့သို့သော တန်ခိုးဂုဏ်ရည်သတ္တိဖြင့် ယခင်က တစ်ဦးတစ်ယောက်မျှ မထွန်းကားခဲ့ဘူးသေးဟူ၏။ သို့တည်းမဟုတ် အချို့ထူးခြားသော ဂုဏ်ရည်များတွင် ဥပမာ-စိတ်နှလုံးနူးညံ့သိမ်မွေ့မှု၊ ပျော့ပြောင်းမှု၊ အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ခန့်ညား၍ ငိုကြွေးမှု စသည်တို့တွင် ထိုသားတော်ကဲ့သို့ အလားတူ ပုဂ္ဂိုလ်တစ်ဦးမျှ မထွန်းကားခဲ့ဘူးသေးဟူ၏။

တမန်တော်ယဟ်ယာ (အလိုင်ဟစ္စလာမ်)၏အကြောင်းကို ကုရ်အာန် (၃း၃၇-၄၀)တွင် ကြည့်ရှုပါကုန်။

فَخَرَجَ عَلٰى قَوْمِهٖ مِنَ الْمِحْرَابِ فَاَوْحٰۤى اِلَيْهِمْ اَنْ سَبِّحُوْا بُكْرَةً وَّعَشِيًّا ﴿١١﴾

၁၁။ ထို့နောက် ယင်းဇကရီယာသည် ဝတ်ပြုနေရာမှ မိမိအမျိုးသားတို့ရှေ့ဝယ် ထွက်ခဲ့ပြီးလျှင် အသင်တို့သည် နံနက်ယံ၌လည်းကောင်း၊ ညဦးယံ၌လည်းကောင်း၊ (အလ္လာဟ်အရှင်မြတ် သန့်ရှင်းစင်ကြယ်တော်မူကြောင်း) တတ်စ်ဗီဟ် ဆိုကြလေကုန်ဟု (လက်ရိပ်ဖြင့်) ညွှန်ခဲ့လေသတည်း။

يٰيَحْيٰى خُذِ الْكِتٰبَ بِقُوَّةٍ ؕ وَاٰتَيْنٰهُ الْحُكْمَ صَبِيًّا ﴿١٢﴾ ۙ

၁၂။ အို-ယဟ်ယာ၊ အသင်သည် *ကျမ်းဂန်ကို* [၁] စွဲမြဲစွာ ကိုင်ထားလော့( ဟု မိန့်ကြားတော်မူခဲ့၏၊) စင်စစ်သော်ကား ငါအရှင်မြတ်သည် ယင်းယဟ်ယာအား *ကလေးဘဝ၌ပင် ဉာဏ်အမြော်အမြင်ကို ချီးမြှင့်ပေးသနားတော်မူခဲ့ပေသည်။* [၂]

وَّحَنَانًا مِّنْ لَّدُنَّا وَزَكٰوةً ؕ وَكَانَ تَقِيًّا ﴿١٣﴾ ۙ

၁၃။ ထိုနည်းတူစွာ မိမိအထံတော်မှ အကြင်နာတရားကိုလည်းကောင်း၊ *သန့်ရှင်းစင်ကြယ်မှုကိုလည်းကောင်း၊* [၃] (ချီးမြှင့်တော်မူခဲ့၏)။ ၎င်းပြင် ယင်းယဟ်ယာသည် (ပြစ်မှုဒုစရိုက်တို့မှ) *အလွန် ရှောင်ရှားသူပင် ဖြစ်ခဲ့ပေသည်။* [၄]

---

(၁) ဤအာယတ်တော်တွင် လာရှိသော "အလ်ကိတာဗ်"ဟူသည် တမန်တော်မူစာထံ ထုတ်ပြန်ချမှတ်တော်မူခဲ့သော တောင်ရာတ်ကျမ်းကို ဆိုလိုသည်။
ကြည့်-အီဗ်နုဂျရီရ်၊ အီဗ်နုကဆီရ်၊ တဖ်စီရ်အဗူစအူဒ်၊ ခါဇင်န်၊ ထာနဝီ၊

(၂) အလ္လာဟ်အရှင်မြတ်သည် တမန်တော် ယဟ်ယာအား ကလေးဘဝ၌ပင် မှန်ကန်ထက်မြက်သော အသိ၊ ဉာဏ်အမြော်အမြင်၊ ခဝပ်ကိုးကွယ်မှု၊ ပြုစုမှုဆိုင်ရာ ယဉ်ကျေးမှုများနှင့် ကျမ်းဂန်လာ အမိန့်ပညတ် အရပ်ရပ်တို့ကို ချီးမြှင့်တော်မူခဲ့လေသည်။ အချို့အာလင်မ်များ၏ ယူဆချက်အရ အလ္လာဟ်အရှင်မြတ်သည် တမန်တော် ယဟ်ယာအား ကလေးဘဝ၌ပင် တမန်တော် ဂုဏ်ထူးဖြင့် ချီးမြှင့်တော်မူခဲ့လေသည်။

ဤအာယတ်တော်တွင် လာရှိသော "အလ်ဟုက်မ်" ဟူသောပုဒ်ကို တမန်တော်ဂုဏ်ထူး ဟူ၍လည်းကောင်း၊ ကျမ်းဂန်လာ အမိန့်ပညတ်များ ဟူ၍လည်းကောင်း၊ အမြော်အမြင်ဟူ၍လည်းကောင်း၊ အမျိုးမျိုး ဖွင့်ဆိုကြသည်။

(၃) ဤ အာယတ်တော်တွင် လာရှိသော "ဇကာတ်"ဟူသောပုဒ်သည် မပေးမနေရ ဆင်းရဲသားကြေး ပေးဆောင်ခြင်း အနက်၌မဟုတ်၊ စိတ်နေသဘောထား၊ အနေအထိုင်၊ အပြောအဆို၊ အကျင့်အမူ၊ ရုပ်နာမ်၊ အတွင်းအပြင် အားလုံးတို့တွင် စင်ကြယ်သန့်ရှင်း အပြစ်ကင်းခြင်း အနက်၌ဖြစ်သည်။

وَبَرًّا بِوَالِدَيْهِ وَلَمْ يَكُن جَبَّارًا عَصِيًّا ﴿١٤﴾

၁၄။ ထို့ပြင် မိမိ၏ *မိဘနှစ်ပါးအား အလွန် ကျေးဇူးပြုတတ်သူလည်းဖြစ်ခဲ့၏။* [1] ထို့ပြင် မာန်မာန ထောင်လွှားသူ၊ အမိန့်တော်ကို *ဖီဆန်သူမဖြစ်ခဲ့ပေ။* [2]

وَسَلَٰمٌ عَلَيْهِ يَوْمَ وُلِدَ وَيَوْمَ يَمُوتُ وَيَوْمَ يُبْعَثُ حَيًّا ﴿١٥﴾

၁၅။ ထိုမှတစ်ပါး ထိုယဟ်ယာ၏အပေါ်၌ ယင်းဖွားမြင်ခဲ့သည့်နေ့တွင်လည်းကောင်း၊ ကွယ်လွန်သေဆုံးမည့်နေ့တွင်လည်းကောင်း၊ အသက်ရှင်လျက် ထရမည့်နေ့တွင်လည်းကောင်း၊ (ငါအရှင်မြတ် အထံတော်မှ) ငြိမ်းချမ်းသာယာမှု (ဘေးရန်ကင်းငြိမ်းမှု)သည် ကျရောက်ပါစေသတည်း။ [3]

---

⑼ တမန်တော်ယဟ်ယာသည် အလ္လာဟ်အရှင်မြတ်အား အလွန်ကြောက်ရွံ့ခန့်ညား၏၊ ချစ်ကြည်မြတ်နိုး၏။ တမန်တော် ယဟ်ယာသည် မည်သည့်အပြစ်ကိုမျှ မကျူးလွန်မိခဲ့ပေ၊ ပြစ်မှုတစ်စုံတစ်ရာကို ကျူးလွန်ရန်ဝေးစွ၊ စိတ်တွင်း၌မျှပင် မရည်စူးမိခဲ့ပေ။

တမန်တော် ယဟ်ယာသည် အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ရိုသေ ခန့်ညားလွန်းသဖြင့် အမြဲတစေ ငိုကြွေး၍နေခဲ့ပေရာ၊ မျက်စိမှ အမြဲတစေ ယိုစီးသော မျက်ရည်များကြောင့် မျက်နှာပေါ်တွင် မျက်ရည်စီးကြောင်းများပင် ထင်လျက်ရှိခဲ့ပေသည်။

⑴ တမန်တော် ယဟ်ယာသည် မိမိ၏ကျေးဇူးရှင် မိဘနှစ်ပါးတို့အား သားကောင်း သမီးကောင်းတို့၌ ပြုစုအပ်သည့် တာဝန်ရှိသည်နှင့်အညီ၊ သူမတူအောင် ကောင်းစွာပြုစုနိုင်ခဲ့ပေသည်။

⑵ တမန်တော် ယဟ်ယာသည် မာန်မာန မောက်မာထောင်လွှား သည်လည်း မရှိခဲ့ပေ၊ ကြမ်းကြုတ်သည်လည်း မရှိခဲ့ပေ။ စိတ်ဓာတ် ခဲယဉ်းသည်လည်း မရှိခဲ့ပေ၊ အလွန်နူးညံ့ သိမ်မွေ့ခဲ့ပေသည်။

တမန်တော်ယဟ်ယာသည် အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်များကို သွေဖည်ငြင်းဆန် မနာခံသည်လည်း အလျှင်းမရှိခဲ့ပေ။ အမိန့်တော်များကို အမြဲတစေ ဦးလည်မသုံ လိုက်နာကျင့်မူခဲ့သည်သာ ဖြစ်ခဲ့ပေသည်။

⑶ တမန်တော် ယဟ်ယာအပေါ်သို့ အလ္လာဟ်အရှင်မြတ်အထံတော်မှ တမန်တော် ယဟ်ယာ မီးရှူးသန့်စင် ဖွားမြင်သည့်နေ့တွင်လည်း ငြိမ်းချမ်းသာယာမှု သက်ရောက်ခဲ့ပေသည်။ ကွယ်လွန်သေဆုံးသည့် နေ့တွင်လည်း သက်ရောက်ခဲ့ပေသည်။ ရှင်ပြန်ထမည့် နေ့တွင်လည်း သက်ရောက်ပေမည်။

ဆိုလိုသည်ကား အလ္လာဟ်အရှင်မြတ်၏ ငြိမ်းချမ်းသာယာမှုသည် တမန်တော် ယဟ်ယာအပေါ်သို့ အမြဲတစေ သက်ရောက်လျက်ရှိပေရာ၊ တမန်တော် ယဟ်ယာသည် အမြဲတစေပင် ငြိမ်းချမ်းသာယာလျက် ရှိတော်မူပေသတည်း။

တမန်တော် ယဟ်ယာ(အလိုင်ဟစ္စလာမ်)၏ ဂုဏ်ပုဒ်များကား များပြားလှတော့၏။ အခြားဂုဏ်ပုဒ်များကို ကုရ်အာန်(၃း၃၈)တွင်ရှုပါကုန်။

وَاذْكُرْ فِي الْكِتٰبِ مَرْيَمَ
إِذِ انْتَبَذَتْ مِنْ أَهْلِهَا
مَكَانًا شَرْقِيًّا ﴿١٦﴾

၁၆။ ၎င်းပြင် (အို-နဗီတမန်တော်) အသင်သည် (ဤကုရ်အာန်)ကျမ်းတော်မှ မရ်ယမ်(၏ အတ္ထုပ္ပတ္တိ) အကြောင်းကို ဖတ်ကြားပါလေ။ တစ်ရံရောအခါဝယ် ယင်းမရ်ယမ်သည် မိမိအိမ်သူအိမ်သားတို့ထံမှ ခွဲခွာ၍ အရှေ့ဖက်၌ရှိသော အခန်းတစ်ခန်းသို့ သွားခဲ့လေသည်။

فَاتَّخَذَتْ مِنْ دُوْنِهِمْ
حِجَابًا فَأَرْسَلْنَا
إِلَيْهَا رُوْحَنَا فَتَمَثَّلَ
لَهَا بَشَرًا سَوِيًّا ﴿١٧﴾

၁၇။ တဖန် ယင်းမရ်ယမ်သည် ထိုအိမ်သူအိမ်သားတို့ (မမြင်နိုင်ရန်) ကန့်လန့်ကာတစ်ခု ချခဲ့လေသည်။ ထို့နောက် ငါအရှင်မြတ်သည် ယင်းမရ်ယမ်၏ထံသို့ မိမိ၏ အထူးကောင်းကင်တမန်ကို စေလွှတ်တော်မူခဲ့လေသည်။ ထိုအခါ ယင်းကောင်းကင်တမန်သည် ထိုမရ်ယမ်၏အရှေ့ဝယ် ပကတိလူသားတစ်ယောက်၏အသွင်ဖြင့် ကိုယ်ထင်ပြခဲ့၏။

قَالَتْ إِنِّيْ أَعُوْذُ بِالرَّحْمٰنِ
مِنْكَ إِنْ كُنْتَ تَقِيًّا ﴿١٨﴾

၁၈။ ထိုအခါ ယင်းမရ်ယမ်က (ထိုကောင်းကင်တမန်အား အကယ်စင်စစ် လူထင်မှတ်၍ ဤသို့)ပြောကြားခဲ့သည်မှာ အကယ်၍ အသင်သည် သူတော်စင်တစ်ဦးဖြစ်ခဲ့မူ ကျွန်ုပ်သည် အသင်(၏ ဘေးအန္တရယ်)မှ (လွတ်ကင်းအံ့သောငှာ) "ရဟ်မာန်" အနန္တကရုဏာတော်ရှင်ထံတော်၌ အကာအကွယ်ယူပါ၏။

قَالَ إِنَّمَا أَنَا رَسُوْلُ رَبِّكِ
لِأَهَبَ لَكِ غُلٰمًا زَكِيًّا ﴿١٩﴾

၁၉။ (ထိုအခါ) ယင်းကောင်းကင်တမန်က (အို-မရ်ယမ်) ကျွန်ုပ်သည် အသင့်အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်၏ စေတမန်သာလျှင် ဖြစ်ပေသည်။ ကျွန်ုပ်သည် အသင့်အား စင်ကြယ်သန့်ရှင်းအပြစ်ကင်းသော သားရတနာတစ်ပါးကို ပေးရန်သာလျှင် (လာရခြင်း)ဖြစ်သည်ဟု ပြောကြားခဲ့လေသည်။

قَالَتْ اَنّٰى يَكُوْنُ لِيْ غُلٰمٌ وَّلَمْ يَمْسَسْنِيْ بَشَرٌ وَّلَمْ اَكُ بَغِيًّا ⑳

၂၀။ ထိုအခါ ယင်းမရ်ယမ်က (အို-ကောင်းကင်တမန်) စင်စစ် ကျွန်ုပ်အား မည်သည့်လူသားတစ်ဦး တစ်ယောက်မျှပင် ထိတွေ့ခဲ့ဖူးသည်လည်း မရှိပါဘဲလျက်လည်းကောင်း၊ ကျွန်ုပ်သည် အကျင့်မကောင်းသူ တစ်ဦးလည်း မဖြစ်ပါဘဲလျက်လည်းကောင်း၊ အသို့လျှင် ကျွန်ုပ်မှာ သားရတနာ ထွန်းကားနိုင်အံ့နည်းဟု ပြန်ပြောခဲ့လေသည်။

قَالَ كَذٰلِكِ ۚ قَالَ رَبُّكِ هُوَ عَلَيَّ هَيِّنٌ ۚ وَلِنَجْعَلَهٗٓ اٰيَةً لِّلنَّاسِ وَرَحْمَةً مِّنَّا ۚ وَكَانَ اَمْرًا مَّقْضِيًّا ㉑

၂၁။ ယင်းကောင်းကင်တမန်က (ဤသို့) ဖြေကြားခဲ့လေသည်၊ (အို-မရ်ယမ်) ဤအတိုင်းပင်ဖြစ်ပေမည်။ အသင့်အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်က "ဤသည်ကား ငါအရှင်မြတ်၌ အလွန်လွယ်ကူလှကြောင်း၊ ထိုမှတစ်ပါး ငါအရှင်မြတ်သည် ယင်း သားရတနာအား လူတို့အဖို့ သက်သေလက္ခဏာတစ်ရပ် အဖြစ်လည်းကောင်း၊ ငါအရှင်မြတ် အထံတော်မှ ကရုဏာတော်အဖြစ်လည်းကောင်း၊ ပြုလိုတော်မူကြောင်း၊ ဤသည် စီရင်ဆုံးဖြတ်ပြီးဖြစ်သော ကိစ္စတစ်ရပ်ပင်ဖြစ်ကြောင်း၊ မိန့်ကြားတော်မူလေသတည်း။ [၁]

---

(၁) တစ်နေ့သောအခါ မရ်ယမ်သခင်မသည် မိမိအိမ်သူအိမ်သား များထံမှခွဲခွာပြီး ဗိုင်တုလ်မုကဒ်ဒတ်စ်ကျောင်းတော်၏ အရှေ့ဘက်ရှိ အဆောင်တစ်ခုကိုသွားခဲ့၏။ ယင်းသို့သွားခဲ့သည့် အကြောင်းနှင့် စပ်လျဉ်း၍ အဆိုအမျိုးမျိုးတွေ့ရှိရ၏။

မုဟမ္မဒ် အီဗ်နအိစ်ဟာက်၏ ယူဆချက်အရ ရေသောက်ရန် သွားခဲ့ခြင်းဖြစ်၏။

နဖ်အလ်ဗက္ကာလီ၏ ယူဆချက်အရ ခဝပ်ကိုးကွယ်ရန် သွားခဲ့ခြင်းဖြစ်၏။

အသို့ကြောင့် သွားခဲ့သည်ဖြစ်စေ မရ်ယမ်သခင်မသည် ယင်းသို့ တစ်ဦးတည်းရှိနေခိုက် ကောင်းကင်တမန် ဂျစ်ဗ်ရီလ်သည် လူသား ပကတိအသွင်ဖြင့် ရောက်ရှိလာခဲ့၏။

မရ်ယမ်သခင်မသည် မိမိအဆောင်တွင် ယင်းကဲ့သို့ မကြုံစဘူး သူစိမ်းယောကျ်ားတစ်ဦးကို တွေ့မြင်ရသောအခါ (ကောင်းကင်တမန်အား လူထင်မှတ်ကာ) စိုးရိမ်ကြောက်ရွံ့စွာဖြင့် "အကယ်၍ အသင်သည် သူတော်စင်တစ်ဦးဖြစ်ပါလျှင် ဤမှထွက်ခွာသွားပါ၊ ကျွန်မသည် အသင်၏အန္တရာယ်မှ လွတ်ကင်းရန် မဟာကရုဏာတော်ရှင် ဖြစ်တော်မူသော အလ္လာဟ်အရှင်မြတ် ထံတော်၌ ခိုလှုံပါသည်"ဟု ပြောဆိုလေသည်။

ကောင်းကင်တမန် ဂျစ်ဗ်ရီလ်က "မိမိသည် လူသားမဟုတ်၊ အသင့်အား ဖန်ဆင်းမွေးမြူတော် ➤➤

فَحَمَلَتْهُ فَانْتَبَذَتْ بِهِ مَكَانًا قَصِيًّا ﴿٢٢﴾

၂၂။ ထို့နောက် ယင်းမရ်ယမ်သည် ထိုသားရတနာကို ကိုယ်ဝန်ဆောင်ခဲ့လေသည်။ ထိုအခါ ယင်းမရ်ယမ်သည် ထိုကိုယ်ဝန်နှင့်အတူ *ဝေးလံသောနေရာတစ်ခုသို့ ရှောင်သွားခဲ့လေသည်။* [၁]

فَأَجَاءَهَا الْمَخَاضُ إِلَىٰ جِذْعِ النَّخْلَةِ قَالَتْ يَا لَيْتَنِي مِتُّ قَبْلَ هَٰذَا وَكُنتُ نَسْيًا مَّنسِيًّا ﴿٢٣﴾

၂၃။ ထို့နောက် သားဖွားခြင်း၏ဝေဒနာသည် ထိုမရ်ယမ်အား စွန်ပလွံပင်(တစ်ပင်)ရှိရာသို့ ဆောင်ကြဉ်းသွားခဲ့လေသည်။ ထိုအခါ ယင်းမရ်ယမ်က ဩော်-ဖြစ်ရလေခြင်း၊ ငါသည် ဤသို့ (ဖမဲ့သားကို) မဖွားမီ သေဆုံးခဲ့ပါလျှင်လည်းကောင်း၊ လုံးဝ မေ့ပျောက်စွန့်ပစ်ထားပြီးဖြစ်ခဲ့ပါလျှင်လည်းကောင်း၊ ကောင်းလေစွတကားဟု *ညည်းညူမြည်တမ်းခဲ့လေသည်။* [၂]

---

➤➤ မူသာအရှင်၏ တမန်ဖြစ်သည်၊ အသင့်အား စင်ကြယ်သန့်ရှင်း အပြစ်ကင်းသော သားတော်တစ်ပါးပေးသနားတော်မူရန် ကျွန်ုပ်အား စေလွှတ်တော် မူလိုက်သည်”ဟု ဖြေကြား၏။

မရ်ယမ်သခင်မက “ကျွန်မ၌ အသို့လျှင် ကလေးရှိနိုင်အံ့နည်း၊ ကျွန်မအား မည်သူတစ်ဦးတစ်ယောက်မျှ လက်ဖျားနှင့်ပင် မထိဘူးပါ၊ ကျွန်မသည် အကျင့်တန်သူလည်း မဟုတ်ပါ” ဟု ပြောဆိုလေသည်။

ကောင်းကင်တမန်က- “အသင့်အား မည်သည့်ယောကျ်ား တစ်ဦးတစ်ယောက်ကမျှ လက်ဖျားနှင့်ပင် မထိဘူးခဲ့သည်မှာလည်း မှန်၏၊ အသင်သည် အကျင့်တန်သူမဟုတ်၊ ကာယိန္ဒြေရှိသော မိန်းမမြတ်တစ်ဦးဖြစ်သည်မှာလည်း မှန်၏။ သို့ပါလျက် ဤအတိုင်းပင်ဖြစ်မည်၊ အသင်၌ သားတော်တစ်ပါး ထွန်းကားမည်။ အသင့်အရှင်က ‘ဤသည် ငါအရှင်၌ အလွန်လွယ်ကူသည်၊ ငါအရှင်သည် ထိုသားတော်အား လူသားတို့အဖို့ သက်သေလက္ခဏာတော် တစ်ပါးဖြစ်စေတော်မူမည်။ ကရုဏာတော် တစ်ပါးလည်း ဖြစ်စေတော်မူမည်၊ ဤကိစ္စမှာလည်း စီရင်ဆုံးဖြတ်ပြီး ကိစ္စဖြစ်သည်’ဟု မိန့်ကြားတော်မူကြောင်း” ပြောပြလိုက်လေသည်။

ထို့နောက် အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်ဖြင့် ကောင်းကင်တမန်သည် အသက်မှုတ်သွင်းလိုက်ရာ မရ်ယမ်သခင်မ၌ ကိုယ်ဝန်ရှိသွားခဲ့လေသည်။ ကြည့်-ကုရ်အာန်-(၂၁း၉၁၊ ၆၆း၁၂)။

ဤအကြောင်းနှင့်စပ်လျဉ်း၍ ကုရ်အာန်(၂း၈၇)တွင် ရေးသားခဲ့ပေပြီ။

(၁) မရ်ယမ်သခင်မသည် ကလေးမျက်နှာမြင်ရန် အချိန်နီးကပ်လာသောအခါ အလွန်ရှက်လှသည့်အတွက် အိမ်သူအိမ်သား အပေါင်းအဖော် အားလုံးတို့ထံမှ ခွဲခွာပြီး အလွန်ဝေးကွာကမ်းလှမ်းသော နေရာသို့ ထွက်ခွာသွားခဲ့လေသည်။ ထိုနေရာသည် ဗိုင်တုလ်မုကဒ်ဒတ်စ် ကျောင်းတော်နှင့် (၈)မိုင်အကွာတွင် တည်ရှိသည်။ ထိုသည့်နေရာကိုပင် “ဗိုင်တုလ္လဟမ်” **(Beth le-hem)** ဟုခေါ်ဆိုခြင်း ဖြစ်တန်ရာသည်။

(၂) မရ်ယမ်သခင်မသည် သားဖွားရန်အချိန် အလွန်နီးကပ်လာသည့်အခါ အတိုင်းမသိ နာကျင်လှသည့်အတွက် မှီတွယ်နိုင်ရန် အလို့ငှာ စွန်ပလွံပင်တစ်ပင် အရင်းသို့ ရောက်လာခဲ့လေသည်။ ထိုအချိန်တွင် ➤➤

فَنَادٰىهَا مِنْ تَحْتِهَآ اَلَّا تَحْزَنِىْ قَدْ جَعَلَ رَبُّكِ تَحْتَكِ سَرِيًّا ﴿٢٤﴾

၂၄။ ထိုအခါ ယင်းမရ်ယမ်အား ၎င်းရှိရာ အောက်နား:မှ (ထိုစွန်ပလွံပင်အောက်မှ) ကောင်းကင်တမန်က (ဤသို့)ပြောကြားခဲ့လေသည်။ (အို-မရ်ယမ်) အသင်မသည် စိတ်မပူလေနှင့်။ ဧကန်စင်စစ် အသင်မအား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်သည် အသင်မ၏ အောက်၌ပင် ချောင်းတစ်ခုကို ဖြစ်ပေါ်စေတော်မူလေပြီ။

وَهُزِّىْٓ اِلَيْكِ بِجِذْعِ النَّخْلَةِ تُسٰقِطْ عَلَيْكِ رُطَبًا جَنِيًّا ﴿٢٥﴾

၂၅။ ထိုမှတစ်ပါး အသင်မသည် စွန်ပလွံပင်၏ ပင်မကို မိမိဖက်သို့ (ဆွဲ၍) လှုပ်ပါလျှင် စိမ်းစိုလတ်ဆတ်သော စွန်ပလွံသီးများသည် အသင်မ၏ရှေ့ဝယ် ကြွေကျလာပါလိမ့်မည်။

فَكُلِىْ وَاشْرَبِىْ وَقَرِّىْ عَيْنًا ۚ فَاِمَّا تَرَيِنَّ مِنَ الْبَشَرِ اَحَدًا ۙ

၂၆။ ထိုအခါ အသင်မသည် (ထိုစွန်ပလွံသီးများကို)စားသုံး၍ (ထိုချောင်းမှရေကို)သောက်သုံးပါလေ။ ၎င်းပြင် မျက်စိကို ကြည်လင်စေပါလေ။

➤➤ မရ်ယမ် သခင်မသည် သားဖွားချိန်၌ ခံစားရသည့် နာကျင်မှုကိုလည်း အလူးအလိမ့် ခံစားနေရရှာ၏။ အနီးတွင် အပေါင်းအဖော်ဟူ၍ တစ်ဦးတစ်ယောက်မျှလည်းမရှိ။ သားဖွားချိန်တွင် လိုအပ်၊ ရှိအပ်သည့်ပစ္စည်းဟူ၍လည်း တစ်စုံတစ်ရာမျှမရှိ။

ယင်းသည့် ဒုက္ခအားလုံးထက် ကြီးမားသော ထိုဒုက္ခကား အခြားမဟုတ်၊ စင်ကြယ်သန့်ရှင်း အပြစ်ကင်းသော ကာယိန္ဒြေရှိသော၊ ဆွေကြီးမျိုးကြီးတစ်ဦးဖြစ်သော မိန်းမပျိုတစ်ဦး၌ ခင်ပွန်းသည်မရှိဘဲလျက် လူ့သဘာဝနှင့်ဆန့်ကျင်ကာ သားသမီး ထွန်းကားရသည့်အတွက် လူအများကကဲ့ရဲ့ပြစ်တင် ရှုတ်ချပြောဆိုကြမည်၊ နာမည်ပျက်ရတော့မည်ဟူသော အတွေးပင်ဖြစ်သည်။ ဤသည့်အတွေးသည် မရ်ယမ်သခင်မအဖို့ အကြီးမားဆုံးသော ဒုက္ခပင်ဖြစ်၏။ စိတ်ဓာတ်ကိုလည်း အများဆုံးထိခိုက်စေခဲ့၏။ မရ်ယမ်သခင်မသည် ဤသည့်အတွေးကို တွေး၍တွေး၍ အဆွေးကြီးဆွေးလျက် ရှိခဲ့၏။ အပူကြီးပူလျက်ရှိခဲ့၏။

ဤသည့်အပူကြောင့် "ဤအချိန်ကြီး မရောက်မီပင် ကျွန်မသေသွားနှင့်ပြီးဖြစ်လျှင်၊ လူ့လောက၌ မိမိ၏အမည်နာမ တစ်စုံတစ်ရာမျှ မကျန်ရစ်ခဲ့လျှင် မိမိအား မည်သူတစ်ဦးတစ်ယောက်မျှလည်း မေ့မှား၍မျှ အမှတ်မရလျှင် ကောင်းလေစွ" ဟူ၍ပင် ညည်းညူ မြည်တမ်းမိခဲ့ရှာလေသည်။ ယခင်က ကောင်းကင်တမန် ပြောကြားခဲ့သည့် ကောင်းချီးသတင်းများကိုပင် အမှတ်မရနိုင်ရှာခဲ့ပေ။

فَقُولِيٓ إِنِّي نَذَرۡتُ لِلرَّحۡمَٰنِ صَوۡمٗا فَلَنۡ أُكَلِّمَ ٱلۡيَوۡمَ إِنسِيّٗا ﴿٢٦﴾

တစ်ဖန် အကယ်၍ အသင်သည် လူသား တစ်ဦးတစ်ယောက်ကို တွေ့ခဲ့ပါမူ ဧကန်အမှန် ကျွန်မသည် ရဟ်မာန် အနန္တကရုဏာတော်ရှင်အား ရည်စူး၍ ဥပုသ်သီလဆောက်တည်ရန် အဓိဋ္ဌာန်ပြုထားပြီးဖြစ်ရာ ကျွန်မသည် ယနေ့ မည်သည့် လူသားတစ်ဦး တစ်ယောက်နှင့်မျှ အလျှင်း စကားပြောဆိုမည် မဟုတ်ကြောင်း၊ ပြောကြားပါလေ။ [၁]

فَأَتَتۡ بِهِۦ قَوۡمَهَا تَحۡمِلُهُۥۖ قَالُواْ يَٰمَرۡيَمُ لَقَدۡ جِئۡتِ شَيۡـٔٗا فَرِيّٗا ﴿٢٧﴾

၂၇။ ၎င်းနောက် ထိုမရ်ယမ်သည် ယင်း သားရတနာကို (မိမိရင်ခွင်ဝယ်)ပွေ့ချီလျက် မိမိအမျိုးသားတို့ထံ လာခဲ့လေ၏။ (ထိုအခါ) ယင်းအမျိုးသားတို့က (ဤသို့) ပြောကြားခဲ့ကြကုန်၏။ အို–မရ်ယမ် အသင်မသည် အလွန်ဆိုးဝါးလှသောပြစ်မှုကို ကျူးလွန်ခဲ့သည် တကား။

---

(၁) ယင်းသို့ မရ်ယမ်သခင်မသည် ညည်းညူမြည်တမ်းသောအခါ ကောင်းကင်တမန် ရောက်ရှိလာပြီး မရ်ယမ်သခင်မအား "အသင်မ စိတ်မပူပါနှင့်၊ အစစအရာရာ စီစဉ်ပြီးဖြစ်ပါသည်။ အသင်မ၏ အရှင်သခင်သည် အသင်မအောက်တွင် စမ်းရေချောင်းတစ်ခုကို စီးတွေစေတော်မူလိုက်ပြီ။ အသင်မသည် ဤစွန်ပလွံပင်ကို ကိုင်လှုပ်ပေးလိုက်လျှင် စိုစိမ်းလတ်ဆတ်သော စွန်ပလွံသီးများသည် အသင်မအပေါ်သို့ ကြွေကျလာပါလိမ့်မည်။ အသင်မသည် စွန်ပလွံသီးကို စားပါ၊ စမ်းရေချိုကို သောက်သုံးပါ၊ သားရတနာကိုကြည့်၍ မျက်စိကိုအေးစေပါ။ ထို့နောက် လူသားတစ်ဦးကို တွေ့မြင်လျှင် လက်ခံစကားပြောနေရန် မလိုပါ၊ ကျွန်မသည် အလ္လာဟ်အရှင်မြတ်အား ရည်သန်၍ စကားမပြောဥပုသ် ဆောက်တည်ထားပါသည်၊ မည်သည့်လူသားနှင့်မျှ စကားအလျှင်းမပြောပါ"ဟု ပြောဆိုရန် ပြောကြားသွားခဲ့လေသည်။

မရ်ယမ်သခင်မသည် သားဖွားရန် ရောက်ရှိခဲ့သော နေရာတွင် ယခင်က ရေမရှိခဲ့ပေ၊ မရ်ယမ်သခင်မ မှီတွယ်ခဲ့သော စွန်ပလွံပင်မှာလည်း ခြောက်သွေ့နေသော အပင်ဖြစ်ခဲ့သည်။ ထိုအပင်၌ အသီးအပွင့် အလျှင်း မရှိခဲ့ပေ။ ထိုအချိန်မှာ သီးပွင့်သည့်အချိန်လည်း မဟုတ်ခဲ့ပေ၊ ယင်းသို့သော အခြေအနေ အချိန်အခါမျိုးမှာပင် အလ္လာဟ်အရှင်မြတ်သည် မိမိ၏ တန်ခိုးတော်ဖြင့် ကုန်းခြောက်တွင် စမ်းရေချောင်းတစ်ခုကို စီးတွေစေတော်မူခဲ့သည်၊ စွန်ပလွံပင်အခြောက်မှ အခါမဟုတ် စွန်ပလွံသီးများကို သီးစေတော်မူခဲ့သည်။ ဤသည် အလ္လာဟ်အရှင်မြတ်၏ တန်ခိုးပြာဋိဟာပင်။ အလ္လာဟ်အရှင်မြတ်၏ တန်ခိုးတော်ဖြင့် အပျိုစင်တစ်ဦးတည်းမှ လင်ခင်ပွန်းမရှိဘဲ အံ့မဆုံးဖွယ် ဖွားမြင်လာခဲ့သော တမန်တော်အီစာ၏ သက်တမ်းတစ်လျှောက်လုံးတွင် ဤသို့သော အံ့ဖွယ်၊ အံ့မဆုံးဖွယ်ရာများကို အများအပြား တွေ့ရှိရပေမည်။

يَٰٓأُخۡتَ هَٰرُونَ مَا كَانَ أَبُوكِ ٱمۡرَأَ سَوۡءٖ وَمَا كَانَتۡ أُمُّكِ بَغِيّٗا ٢٨

၂၈။ အို-ဟာရူန်၏နှမ၊ အသင်မ၏ ဖခင်မှာလည်း အကျင့်မကောင်းသူ မဟုတ်ခဲ့ပေ။ အသင်မ၏ မိခင်မှာလည်း အကျင့်ပျက်သူတစ်ဦး မဟုတ်ခဲ့ချေတကား။

فَأَشَارَتۡ إِلَيۡهِۖ قَالُواْ كَيۡفَ نُكَلِّمُ مَن كَانَ فِي ٱلۡمَهۡدِ صَبِيّٗا ٢٩

၂၉။ ထိုအခါ ထိုမရ်ယမ်သည် ထိုသားရတနာကို ညွှန်ပြခဲ့လေရာ၊ ယင်းအမျိုးသားတို့က (အို-မရ်ယမ်) အကျွန်ုပ်တို့သည် ပုခက်တွင်းဝယ် ကလေး(ဘဝ၌)ပင် ရှိနေသေးကာသူငယ်နှင့်အသို့လျှင် စကားပြောဆိုကြရအံ့နည်းဟု ပြောဆိုခဲ့ကြလေသည်။ [၁]

قَالَ إِنِّي عَبۡدُ ٱللَّهِ ءَاتَىٰنِيَ ٱلۡكِتَٰبَ وَجَعَلَنِي نَبِيّٗا ٣٠

၃၀။ (ထိုအခါ)၊ ယင်း(ပုခက်တွင်းမှ)ကလေးသူငယ် (အီစာ)က (ဤသို့စကား) ပြောဆို(ဖြေကြား)ခဲ့လေ၏။ "ဧကန်မလွဲ ကျွန်ုပ်သည် *အလ္လာဟ်အရှင်မြတ်၏ ကျွန်သာလျှင် ဖြစ်ပေသည်။* [၂]

---

(၁) မရ်ယမ်သခင်မသည် ကလေးမျက်နှာမြင်ပြီးနောက် သားတော်ကို ပိုက်ချီကာ မိမိ၏ အမျိုးသားများထံ ပြန်လာခဲ့၏။ ထိုအခါ အမျိုးသားများက "အို-မရ်ယမ်၊ အသင်မသည် အလွန်ဆိုးရွားသော ပြစ်မှုကို ကျူးလွန်ခဲ့ချေပြီ။ အို-ဟာရူန်၏နှမ၊ အသင်မ၏ ဖခင်ကြီးမှာလည်း အကျင့်ပျက်သူမဟုတ်၊ အသင်မ၏ မိခင်ကြီးမှာလည်း အကျင့်ပျက်သူမဟုတ်" ဟု ကဲ့ရဲ့ပြစ်တင်ရှုတ်ချ ပြောဆိုကြလေသည်။ ဆိုလိုသည်ကား အို-မရ်ယမ်၊ သင်မ၏ဖခင်ကြီးမှာလည်း သူတော်ကောင်း၊ သင်မ၏မိခင်ကြီးမှာလည်း သူတော်ကောင်း၊ သင်မ၏နောင်တော်ကြီးမှာလည်း သူတော်ကောင်း၊ သင်မ၏မျိုးနွယ်ဆက်မှာလည်း မျိုးမြင့်၊ မျိုးမြတ်၊ မျိုးကောင်း သို့ မိကောင်းဖကောင်း သမီး၊ မောင်ကောင်းနှမ၊ မျိုးမြင့် မျိုးမြတ် မျိုးကောင်း အမျိုးသမီးတစ်ဦး ဖြစ်ပါလျက်နှင့် ယခုကဲ့သို့ လင်ခင်ပွန်းမရှိဘဲ အဘယ်ကြောင့် ကလေးရသနည်းဟု ကဲ့ရဲ့ပြစ်တင်ရှုတ်ချ ပြောဆိုခြင်းဖြစ်သည်။

ယင်းသို့ ကဲ့ရဲ့ပြစ်တင် ပြောဆိုလာကြသည့်အခါ မရ်ယမ်သခင်မသည် မိမိကိုယ်တိုင် တစ်ခွန်း တစ်ပါဒမျှ ပြန်လည်မဖြေကြားဘဲ ပုခက်တွင်းရှိ သားတော်အားသာ စုံစမ်းမေးမြန်းကြရန် ညွှန်ပြလိုက်လေသည်။ ထိုအခါ အမျိုးသားများက ငါတို့သည် ပုခက်တွင်းရှိ ကလေးနှင့် အသို့လျှင် စကားပြောနိုင်ကြအံ့နည်းဟု ပြောဆိုကြလေသည်။ ထိုအခါ အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်ဖြင့် သားတော်အီစာသည် ပုခက်တွင်းမှပင် ကုရ်အာန်ကျမ်းမြတ်တွင် လာရှိသည့်အတိုင်း အံ့ဖွယ်သရဲ တရားဟောကြားလေသည်။

(၂) တမန်တော်အီစာ(အလိုင်ဟစ္စလာမ်)က ပုခက်တွင်းမှ "ကျွန်ုပ်သည် အလ္လာဟ်အရှင်မြတ်၏ ကျွန်ဖြစ်သည်" ဟု ပြောကြားခဲ့၏။ ဆိုလိုသည်ကား တမန်တော်အီစာသည် အလ္လာဟ်မဟုတ်၊ အလ္လာဟ်၏သားလည်းမဟုတ်၊ အလ္လာဟ်အရှင်မြတ်၏ ကျွန်သာဖြစ်သည်။ ဤသည့် အာယတ်တော်များကို ထောက်ရှုခြင်းအားဖြင့် တမန်တော်အီစာနှင့် ပတ်သက်၍ ခရစ်ယာန် ဘာသာဝင်များ၏ အကြည်အညို လွန်ကဲမှု၊ ယဟူဒီများ၏ အထင်အမြင်သေးမှုများ မှားယွင်းနေသည်ကို ကောင်းစွာသိရှိနိုင်ပေသည်။

ထိုအရှင်မြတ်သည် ကျွန်ုပ်အား *(အင်န်ဂျီလ်) ကျမ်းဂန်ကို ချီးမြှင့်ပေးသနားတော်မူခဲ့လေသည်။* [၁] ၎င်းပြင် ထိုအရှင်မြတ်သည် ကျွန်ုပ်အား နဗီတမန်တော်အဖြစ်လည်း ချီးမြှောက်တော်မူခဲ့ပေသည်။ [၂]

وَّجَعَلَنِىْ مُبٰرَكًا اَيْنَ مَا كُنْتُ وَاَوْصٰنِىْ بِالصَّلٰوةِ وَالزَّكٰوةِ مَا دُمْتُ حَيًّا ﴿٣١﴾

၃၁။ ၎င်းပြင် ထိုအရှင်မြတ်သည် ကျွန်ုပ်အား မည်သည့်နေရာ၌မဆို ကျွန်ုပ်ရှိနေစေကာမူ ဗရ်ကတ်မင်္ဂလာနှင့်ပြည့်စုံသူ ပြုလုပ်တော်မူခဲ့ပေသည်။ ထိုမှတစ်ပါး ထိုအရှင်မြတ်သည် ကျွန်ုပ်အား အသက်ထင်ရှား ရှိနေသမျှကာလပတ်လုံး ဆွလာတ်ဝတ်ပြုရန်လည်းကောင်း၊ ဇကာတ်ပေးဆောင်ရန်လည်းကောင်း၊ အမိန့်ပေးတော်မူခဲ့လေသည်။ [၃]

وَّبَرًّۢا بِوَالِدَتِىْ وَلَمْ يَجْعَلْنِىْ جَبَّارًا شَقِيًّا ﴿٣٢﴾

၃၂။ ထိုမှတစ်ပါး (ထိုအရှင်မြတ်သည် ကျွန်ုပ်အား) ကျွန်ုပ်၏မိခင်ကို ကောင်းစွာပြုစု ကျေးဇူးပြုတတ်သူလည်း (ဖြစ်စေတော်မူခဲ့၏၊) [၄] ၎င်းပြင် ထိုအရှင်မြတ်သည် ကျွန်ုပ်အား မာန်မာထောင်လွှားသူ၊ အကြောင်းမလှသူအဖြစ်လည်း ပြုလုပ်တော်မမူခဲ့ချေ။

---

(၁) တမန်တော်အီစာက "ထိုအရှင်မြတ်သည် ကျွန်ုပ်အား ကျမ်းဂန်ကို ချီးမြှင့်တော်မူခဲ့သည်" ဟု ပြောကြားခဲ့၏။ ထိုကျမ်းဂန်မှာ အင်န်ဂျီလ်ကျမ်းဂန်ပင်ဖြစ်သည်။ တမန်တော်အီစာသည် တရားမဲ့မဟုတ်၊ ကျမ်းရပုဂ္ဂိုလ်ဖြစ်သည်။

(၂) တမန်တော်အီစာက "ထိုအရှင်မြတ်သည် ကျွန်ုပ်အား နဗီတမန်တော်အဖြစ် ချီးမြှောက်တော်မူခဲ့သည်" ဟု ပြောကြားခဲ့၏။ ဆိုလိုသည်ကား တမန်တော်အီစာသည် မသာဝါဒီမဟုတ်၊ အလ္လာဟ်အရှင်မြတ်၏ တမန်တော်အစစ်အမှန်ဖြစ်သည်။

(၃) တမန်တော်အီစာက "ထိုအရှင်မြတ်သည် ကျွန်ုပ်အား ကျွန်ုပ်အသက်ရှင်သမျှ ကာလပတ်လုံး ဆွလာတ်ဝတ်ပြုရန်နှင့် ဇကာတ်ပေးရန် အမိန့်ပေးတော်မူခဲ့သည်" ဟုပြောကြားခဲ့၏။ ဤအာယတ်တော်တွင် ပါရှိသည့် "ဆွလာတ်"နှင့် "ဇကာတ်"ဟူသော ပုဒ်များသည် မိမိတို့၏ကြွယ်ဝလှသော မူရင်းအနက်၌လည်း ဖြစ်နိုင်ပေသည်။ ဤသည်ကို ထောက်ရှုခြင်းအားဖြင့် တမန်တော်အီစာသည် မိမိတစ်သက်တာလုံး အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်များကို ဦးလည်မသုံ လိုက်နာကျင့်သုံးရမည် ဖြစ်ကြောင်းကို ကောင်းစွာ သိနိုင်ပေသည်။

(၄) တမန်တော်အီစာက "ထိုအရှင်မြတ်သည် ကျွန်ုပ်အား မိမိ၏မိခင်အား ကောင်းစွာပြုစုသူ (ပြုလုပ်တော်မူခဲ့သည်)"ဟု ပြောကြားခဲ့၏။ တမန်တော်အီစာသည် ဖခင်မရှိဘဲ အမိတစ်ပါးတည်းမှ မွေးဖွားလာခဲ့ရသည့်အတွက် ဤအာယတ်တော်တွင် မိခင်ကိုသာ ထုတ်ဖော်မိန့်ဆိုထားတော် မူခြင်းဖြစ်သည်။ ကျေးဇူးရှင်မိဘနှစ်ပါး ➤➤

وَالسَّلٰمُ عَلَيَّ يَوۡمَ وُلِدۡتُّ وَيَوۡمَ اَمُوۡتُ وَيَوۡمَ اُبۡعَثُ حَيًّا ﴿٣٣﴾

၃၃။ ထို့ပြင် ကျွန်ုပ်၏အပေါ်၌ ကျွန်ုပ်မွေးဖွားခဲ့သည့်နေ့၌လည်းကောင်း၊ ကျွန်ုပ်သေဆုံးမည့်နေ့၌လည်းကောင်း၊ ကျွန်ုပ် ရှင်ပြန်ထစေခြင်း ခံရမည့်နေ့၌လည်းကောင်း၊ (အလ္လာဟ်အရှင်မြတ်အထံတော်မှ) ငြိမ်းချမ်းသာယာမှုသည် ကျရောက်ပါစေသတည်း။ ၁

ذٰلِكَ عِيۡسَى ابۡنُ مَرۡيَمَ ۚ قَوۡلَ الۡحَقِّ الَّذِىۡ فِيۡهِ يَمۡتَرُوۡنَ ﴿٣٤﴾

၃၄။ ဤသည်ကား မရ်ယမ်၏သားတော် *အကြင် အီစာပင်။* ၂ ယင်းမှန်ကန်သောစကားကို ပြောဆိုခဲ့လေသည်။ ၎င်းတို့သည် ထိုအီစာနှင့်ပတ်သက်၍ အငြင်းအခုံ ပြုလျက်ရှိကြကုန်သည်။

**(တစ်နည်း:)**

ဤသည် မရ်ယမ်၏သားတော် အီစာပင်။ (ဤသည်) အကြင် မှန်ကန်သောစကားပင်။ ၎င်းတို့သည် ယင်းစကားနှင့်စပ်လျဉ်း၍ အငြင်းအခုံပြုလျက်ရှိကြကုန်သည်။

➤➤ တို့အား ပြုစုရန် သားသမီးတို့၌ တာဝန်ရှိသည့်အလျောက် တမန်တော်အီစာသည် မိမိ၏ကျေးဇူးရှင်မိခင်ကြီးအား ကောင်းစွာပြုစုနိုင်ခဲ့ပေသည်။

① တမန်တော်အီစာက "ငြိမ်းချမ်းသာယာမှု မင်္ဂလာသည် ကျွန်ုပ်အပေါ်၌ ကျွန်ုပ်မွေးဖွားသည့်နေ့တွင်လည်းကောင်း၊ ကျွန်ုပ်သေဆုံးသည့် နေ့တွင်လည်းကောင်း၊ ကျွန်ုပ်ရှင်ပြန်ထရမည့် နေ့တွင်လည်းကောင်း သက်ရောက်ပါစေသတည်း" ဟု ပြောကြားခဲ့၏။ တမန်တော်အီစာသည် အလ္လာဟ်အရှင်မြတ်၏ထံတော်မှ ငြိမ်းချမ်းသာယာ အောင်မြင်မှုမင်္ဂလာကို ခံခဲ့ရပေသည်။ ဤသည် အလ္လာဟ်အရှင်မြတ်၏ ကျွန်ထူးကျွန်မြတ်ဖြစ်ခြင်း၏ ထင်ရှားသော သာဓကတစ်ရပ်ပင်။

② "ဤသည် မရ်ယမ်၏သား အီစာဖြစ်သည်" -ဆိုလိုသည်ကား ကုရ်အာန်(၁၉း ၃၀-၃၃)တွင် ဖော်ပြပါရှိသည့် ဂုဏ်ရည်များသည် တမန်တော်အီစာ၏ ဂုဏ်ရည်များပင်ဖြစ်သည်။ ယင်းသည့် ဂုဏ်ရည်များသည် ရှင်းလင်းလှပေသည်၊ သို့ပါလျက် လူများသည် တမန်တော်အီစာနှင့် ပတ်သက်၍ အမျိုးမျိုးငြင်းခုံလျက် ရှိကြပေသည်။ အချို့က- (တမန်တော်)အီစာသည် အလ္လာဟ်အရှင်မြတ်ဖြစ်သည်၊ အချို့က -အလ္လာဟ်အရှင်မြတ်၏ သားတော်ဖြစ်သည်ဟု ဆိုကြသည်။ အချို့က တမန်တော်အီစာ၏မယ်တော်အား မဟုတ်မလျား စွပ်စွဲပြောဆိုကြသည်။

အမှန်မှာ တမန်တော်အီစာသည် ကုရ်အာန်ကျမ်းမြတ်တွင် လာရှိသည့်အတိုင်း အလ္လာဟ်မဟုတ်၊ အလ္လာဟ်၏ သားတော်လည်းမဟုတ်၊ မုသာဝါဒီလည်းမဟုတ်၊ အလ္လာဟ်၏ကျွန်၊ အလ္လာဟ်၏ ➤➤

مَا كَانَ لِلّٰهِ اَنْ يَّتَّخِذَ مِنْ وَّلَدٍ ۙ سُبْحٰنَهٗ ۗ اِذَا قَضٰۤى اَمْرًا فَاِنَّمَا يَقُوْلُ لَهٗ كُنْ فَيَكُوْنُ ۝٣٥

၃၅။ သားသမီးတစ်စုံတစ်ယောက် ပြုလုပ်ခြင်းသည် အလ္လာဟ်အရှင်မြတ်နှင့် အလျှင်း မအပ်စပ်ပေ။ ထိုအရှင်မြတ်သည် (အိမ်ထောင်ပြု သားမွေးခြင်းကိစ္စတို့မှ) လုံး၀ကင်းတော်မူ၏။ (အမှန်စင်စစ်) မည်သည့်အခါမဆို ထိုအရှင်မြတ်သည် အမှုကိစ္စ တစ်စုံတစ်ရာကို စီရင်ပြဋ္ဌာန်းတော်မူပါလျှင် ထိုအရှင်မြတ်သည် ယင်းအမှုကိစ္စကို ဖြစ်စေဟု မိန့်ကြားတော်မူရုံမျှဖြင့် ထိုအမှုကိစ္စသည် ဖြစ်သွားလေ၏။

وَاِنَّ اللّٰهَ رَبِّيْ وَرَبُّكُمْ فَاعْبُدُوْهُ ۗ هٰذَا صِرَاطٌ مُّسْتَقِيْمٌ ۝٣٦

၃၆။ ၎င်းပြင် ဧကန်အမှန် အလ္လာဟ်အရှင်မြတ်သည် ကျွန်ုပ်အားလည်း ဖန်ဆင်းမွေးမြူတော်မူသောအရှင်၊ အသင်တို့အားလည်း ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်ပင်၊ ဖြစ်တော်မူပေသည်။ သို့ဖြစ်ပေရာ အသင်တို့သည် ထိုအရှင်မြတ်အားသာလျှင် ခ၀ပ်ကိုးကွယ်ကြလေကုန်။ ဤသည်သာလျှင် ဖြောင့်မတ်သော တရားလမ်းပင်ဖြစ်ပေသတည်း။

فَاخْتَلَفَ الْاَحْزَابُ مِنْۢ بَيْنِهِمْ ۚ فَوَيْلٌ لِّلَّذِيْنَ كَفَرُوْا مِنْ مَّشْهَدِ يَوْمٍ عَظِيْمٍ ۝٣٧

၃၇။ ထို့နောက် ၎င်း(ခရစ်ယာန်)တို့အနက် အုပ်စုအသီးသီးတို့သည် အထင်အမြင် အယူအဆ ကွဲပြားခဲ့ကြလေသည်။ [၁] သို့ဖြစ်ပေရာ ကြီးကျယ်လှစွာသော (ကိယာမတ်)နေ့ ရောက်ရှိလာသောအခါ ကာဖိရ်သွေဖည်ငြင်းပယ်သူတို့၌ (အကြီးအကျယ်) ပျက်စီးမှုသည် ရှိအံ့သတည်း။ [၂]

---

>> တမန်တော်သာ ဖြစ်သည်။ မရ်ယမ်သခင်မ၏ သားတော်ဖြစ်သည်။ မရ်ယမ်သခင်မမှာ စင်ကြယ်သန့်ရှင်းအပြစ်ကင်းသော အမျိုးသမီးတစ်ဦးဖြစ်သည်။

ဤအာယတ်တော်တွင် လာရှိသည့် ( قَوْلَ الْحَقِّ ) "ကောင်လလ်ဟာက္ကိ" ၏အနက်ကို (كلمة الله) "ကလိမတွလ္လာဟ်" အလ္လာဟ်အရှင်မြတ်၏ အာယတ်တော် ဖြစ်သည်ဟုလည်း အချို့ကဖွင့်ဆိုကြသည်။

(၁) ပွင့်လေသမျှသော တမန်တော်အပေါင်းတို့၏ မူလဘူတ အဓိကတရားမှာ "တောင်ဟီဒ်" (တစ်ဆူတည်းသော အလ္လာဟ်အရှင်မြတ်အား ယုံကြည်ကိုးကွယ်ခြင်း) ပင်ဖြစ်သည်။ တောင်ဟီဒ်တရားသည် မှန်သည်၊ ယုတ္တိဒဋ္ဌိ၊ အာဂမဒဋ္ဌိ နှစ်လီသော အထောက်အထားများနှင့်လည်း ပြည့်စုံသည်။ တမန်တော်အီစာလည်း >>

أَسْمِعْ بِهِمْ وَأَبْصِرْ يَوْمَ يَأْتُونَنَا لَٰكِنِ الظَّٰلِمُونَ الْيَوْمَ فِي ضَلَٰلٍ مُّبِينٍ ﴿٣٨﴾

၃၈။ ၎င်းတို့သည် ငါအရှင်မြတ်ထံတော်သို့ လာကြသောနေ့တွင် အဘယ်မျှလောက် ကြားသူများ၊ အဘယ်မျှလောက် မြင်သူများ ဖြစ်သွားကြအံ့နည်း။ သို့ရာတွင် ယနေ့သော်ကား မတရားကျူးလွန်သူတို့သည် အလွန်ထင်ရှားစွာသော လမ်းမှားမှု၌ပင် ရှိနေကြကုန်၏။

وَأَنذِرْهُمْ يَوْمَ الْحَسْرَةِ إِذْ قُضِيَ الْأَمْرُ وَهُمْ فِي غَفْلَةٍ وَهُمْ لَا يُؤْمِنُونَ ﴿٣٩﴾

၃၉။ ၎င်းပြင် (အို-နဗီတမန်တော်) အသင်သည် ၎င်းတို့အား အမှန်စင်စစ် ၎င်းတို့သည် အလေးမမူ ဂရုမစိုက်ဘဲ ရှိနေကြပေရာ အကြင် ဝမ်းနည်းကြေကွဲရမည့်နေ့နှင့်စပ်လျဉ်း၍ သတိပေး နှိုးဆော်ပါလေ။ ထိုနေ့တွင် အမှုကိစ္စ(အဝဝတို့သည် နောက်ဆုံးအနေနှင့်) စီရင်ဆုံးဖြတ်ပြီး ဖြစ်အံ့သတည်း။

إِنَّا نَحْنُ نَرِثُ الْأَرْضَ وَمَنْ عَلَيْهَا وَإِلَيْنَا يُرْجَعُونَ ﴿٤٠﴾

၄၀။ ဧကန်မလွဲ ငါအရှင်မြတ်သာလျှင် ကမ္ဘာမြေကိုလည်းကောင်း၊ ယင်းကမ္ဘာမြေဝယ် ရှိသမျှတို့ကိုလည်းကောင်း၊ အမွေခံ(ဝါ)နောက်ဆုံးပိုင်ဆိုင်တော်မူသောအရှင်မြတ်အဖြစ် ကျန်ရစ်တော်မူမည်။ ထိုမှတစ်ပါး ၎င်းတို့သည် ငါအရှင်မြတ်အထံတော်သို့သာလျှင် ပြန်လည် ရောက်ရှိကြရမည်သာတည်း။

➤➤ ဤသည့်တောင်ဟီဒ်တရားကိုပင် အခြေခံထား၍ ဟောကြားတော်မူခဲ့သည်။ သို့ပါလျက် ခရစ်ယာန်များတွင် တောင်ဟီဒ်ကိုငြင်းပယ်၍ အုပ်စုဂိုဏ်းဂဏ အမျိုးမျိုးပေါ်ကာ ဘာသာအယူဝါဒ အမျိုးမျိုး ကွဲပြားလာခဲ့ပေသည်။ ကြည့်-ထာနဝီ။

Ⓙ တောင်ဟီဒ်ကို ငြင်းပယ်သော ကာဖိရစ်များသည် အလွန်ကြောက်မက်ဖွယ်ကောင်းသောနေ့၊ မုချဆိုက်ရောက်မည့် ဖြစ်သည့်နေ့၊ (ဝါ) ကိယာမတ်နေ့တွင် ပျက်စီးခြင်းကြီးမက ပျက်စီးကြရတော့မည်။ ကာဖိရ်များသည် ဤသည့်အချက်ကို သိထားသင့်ကြပေသည်။

ဤအာယတ်တော်တွင်ပါရှိသည့် (مَشْهَد) "မရှ်ဟဒ်" ဟူသောပုဒ်ကို ဆိုက်ရောက်ခြင်း၊ ဆိုက်ရောက်ရာဌာန၊ ဆိုက်ရောက်သည့် အချိန်ဟူ၍ အနက်အဓိပ္ပါယ် အမျိုးမျိုး ကောက်ယူနိုင်ပေသည်။

وَاذْكُرْ فِي الْكِتٰبِ اِبْرٰهِيْمَ ۬ اِنَّهٗ كَانَ صِدِّيْقًا نَّبِيًّا ﴿٤١﴾

၄၁။ ထိုမှတစ်ပါး (အို-နဗီတမန်တော်) အသင်သည် (မိမိအမျိုးတို့ရှေ့ဝယ် ဤ)ကျမ်းဂန်မှ (နဗီတမန်တော်)အီဗ်ရာဟီမ်(၏အကြောင်း အတ္တုပ္ပတ္တိ)ကို ဖတ်ကြားပါလေ။ ဧကန်မလွဲ ထို အီဗ်ရာဟီမ်သည် သစ္စာဝါဒီ ဖြစ်ခဲ့ပေသည်။ နဗီတမန်တော်လည်း ဖြစ်ခဲ့ပေသည်။ [၁]

اِذْ قَالَ لِاَبِيْهِ يٰۤاَبَتِ لِمَ تَعْبُدُ مَا لَا يَسْمَعُ وَلَا يُبْصِرُ وَلَا يُغْنِيْ عَنْكَ شَيْـًٔا ﴿٤٢﴾

၄၂။ တစ်ရံရောအခါ ထို(နဗီတမန်တော်အီဗ်ရာဟီမ်)သည် မိမိဖခင်(အာဇရ်)အား (ဤသို့) ပြောကြားခဲ့လေသည်။ အို-ကျွန်ုပ်၏ဖခင်၊ အသင်(ဖခင်)သည် အဘယ်ကြောင့် အကြင်အရာကို ခဝပ်ကိုးကွယ်နေပါသနည်း။ ထိုအရာသည် (တစ်စုံတစ်ရာကိုမျှပင်) ကြားသည်လည်း မဟုတ်၊ မြင်သည်လည်း မဟုတ်ချေ။ ထိုမှတစ်ပါး ယင်းအရာသည် အသင်(ဖခင်)အဖို့ စိုးစဉ်းမျှပင် အသုံးဝင်နိုင်မည်လည်းမဟုတ်ပေတကား။

يٰۤاَبَتِ اِنِّيْ قَدْ جَآءَنِيْ مِنَ الْعِلْمِ مَا لَمْ يَاْتِكَ فَاتَّبِعْنِيْۤ اَهْدِكَ صِرَاطًا سَوِيًّا ﴿٤٣﴾

၄၃။ အို-ကျွန်ုပ်၏ဖခင်၊ အသင်(ဖခင်)၏ထံသို့ မရောက်ခဲ့သော *အသိပညာ(ဝဟီအမိန့်တော်)ကား* [၂] ဧကန်မလွဲ ကျွန်ုပ်ထံ ရောက်လာခဲ့ပြီဖြစ်ပါ၍ အသင်(ဖခင်)သည် ကျွန်ုပ်၏နောက်သို့ လိုက်ခဲ့ပါ။ ကျွန်ုပ်သည် အသင်(ဖခင်)အား ဖြောင့်မတ်သောတရားလမ်းမှန်ကို ပြသပါမည်။

---

(၁) **မှတ်ချက်။**

တမန်တော် အီဗ်ရာဟီမ် (အလိုင်ဟစ္စလာမ်)၏အကြောင်း ကုရ်အာန်(၂း၁၂၄-၁၄၁)တွင် အကျယ်တဝင့်ပါရှိသည်။ သက်ဆိုင်ရာ အဖွင့်များကို ပြန်လည်ရှုပါကုန်။

တမန်တော် အီဗ်ရာဟီမ်သည် "ဆွစ်ဒ်ဒီက်" ဖြစ်တော်မူသည်၊ "ဆွစ်ဒ်ဒီက်" သဒ္ဒါသည် အလွန်အမှန်ဆိုသူ၊ မိမိ၏ပြောဆိုချက်ကို အမှန်ဖြစ်ကြောင်း လက်တွေ့ပြသူ ဟူသော အနက်ကိုဟောသည်။ တမန်တော် အီဗ်ရာဟီမ်၏ စိတ်နှလုံးသည် အလွန်တရာမှ ဖြူစင်သည်၊ အမှန်တရားကို လက်ခံရန် စွမ်းရည်သတ္တိအပြည့်အဝရှိသည်။ အလ္လာဟ်အရှင်မြတ် ထံတော်မှ ကျရောက်လာသော အမိန့်တော်များကို ဆုတ်ဆိုင်းခြင်း အလျှင်းမရှိဘဲ၊ သံသယကင်းစွာဖြင့် ယုံကြည်လက်ခံသည်၊ လက်တွေ့ အကောင်အထည်ဖော်သည်။ ➢➢

يَٰٓأَبَتِ لَا تَعۡبُدِ ٱلشَّيۡطَٰنَۖ إِنَّ ٱلشَّيۡطَٰنَ كَانَ لِلرَّحۡمَٰنِ عَصِيّٗا ٤٤

၄၄။ အို-ကျွန်ုပ်၏ဖခင်၊ အသင်(ဖခင်)သည် *ရှိုင်တွာန်မိစ္ဆာကောင်ကို ခဝပ်ကိုးကွယ်ခြင်းမပြုပါနှင့်။* [၁] ဧကန်မလွဲ ရှိုင်တွာန်မိစ္ဆာကောင်မှာ ရဟ်မာန် အနန္တကရုဏာရှင်(၏အမိန့်တော်)ကို ဖီဆန်သူဖြစ်ခဲ့ပါသည်။

يَٰٓأَبَتِ إِنِّيٓ أَخَافُ أَن يَمَسَّكَ عَذَابٞ مِّنَ ٱلرَّحۡمَٰنِ فَتَكُونَ لِلشَّيۡطَٰنِ وَلِيّٗا ٤٥

၄၅။ အို-ကျွန်ုပ်၏ဖခင်၊ ဧကန်ဆတ်ဆတ် ကျွန်ုပ်မှာ အသင်(ဖခင်)၌ ရဟ်မာန် အနန္တကရုဏာတော်ရှင်၏အထံတော်မှ ပြစ်ဒဏ်သက်ရောက်မည်ကို စိုးရိမ်မိပါသည်။ ထိုသို့ဖြစ်ခဲ့ပါလျှင် အသင်(ဖခင်) သည် ရှိုင်တွာန်မိစ္ဆာကောင်၏ အဆွေခင်ပွန်း ဖြစ်သွားပါလိမ့်မည်။

قَالَ أَرَاغِبٌ أَنتَ عَنۡ ءَالِهَتِي يَٰٓإِبۡرَٰهِيمُۖ لَئِن لَّمۡ تَنتَهِ لَأَرۡجُمَنَّكَۖ وَٱهۡجُرۡنِي مَلِيّٗا ٤٦

၄၆။ (ထိုအခါ နဗီတမန်တော်အီဗ်ရာဟီမ်၏ဖခင်) ထို(အာဇရ်)က (ဤသို့)ပြောဆို (ကြိမ်းမောင်း)ခဲ့လေသည်။ အို-အီဗ်ရာဟီမ်၊ အသင်သည် ကျွန်ုပ်၏ ကိုးကွယ်ရာတို့ဘက်မှ မျက်နှာလွှဲသူ(ကျောခိုင်း)သူ ဖြစ်နေပါသလော။

---

➢➢ တမန်တော် အီဗ်ရာဟီမ်သည် အရေးကိစ္စအဝဝတွင် အဖက်ဖက်၌ "ဆွစ်ဒ်ဒီက်" ဖြစ်တော်မူခဲ့သည်။ "ဆွစ်ဒ်ဒီက်" ဖြစ်ခြင်းနှင့် "နဗီ" ဖြစ်ခြင်းသည် အညမညမဟုတ်။ ဆွစ်ဒ်ဒီက် ဖြစ်သူသည် နဗီဖြစ်ရကောင်းစေ မဟုတ်၊ ထို့အတွက်ကြောင့် ဤအာယတ်တော်တွင် "ဆွစ်ဒ်ဒီက်"ဟူသော ဂုဏ်ပုဒ်၏နောက်တွင် "နဗီ" ဟူသော ဂုဏ်ပုဒ်ကို အထူးတလည် ထုတ်ဖော် မိန့်ဆိုထားတော် မူခြင်းဖြစ်သည်။

(၂) တမန်တော် အီဗ်ရာဟီမ် ရရှိသော အသိပညာဟူသည် "တောင်ဟီဒ်" အလ္လာဟ်အရှင်မြတ် တစ်ပါးတည်း ရှိတော်မူခြင်း၊ "အီမာန်" အလ္လာဟ်အရှင်မြတ်အား ယုံကြည်ခြင်းနှင့် "နဂျာတ်"ငရဲ မီးဘေးမှ လွတ်မြောက်ခြင်းဆိုင်ရာ အသိပညာ(ဝါ) အလ္လာဟ်အရှင်မြတ်၏ "ဝဟီ" အမိန့်တော်၊ ဒေသနာတော်ကို ဆိုလိုသည်။

ကြည့်-မာဂျိဒီ။ ထာနဝီ။

(၁) ဆင်းတုများကို ကိုးကွယ်ခြင်းသည် ရှိုင်တွာန်၏ ဖြားယောင်းမှုကြောင့်ဖြစ်သည်။ ရှိုင်တွာန်သည် မိမိ၏ ဖြားယောင်းမှုကြောင့် ဆင်းတုများကို လူများကိုးကွယ်ကြသည့်အခါ အထူးဝမ်းသာသည်။ ဤသည့်သဘောဖြင့် ဆင်းတုများကို ကိုးကွယ်ခြင်းသည် တစ်နည်းအားဖြင့် ရှိုင်တွာန်ကို ကိုးကွယ်ခြင်းပင်ဖြစ်သည်။ ရှိုင်တွာန်သည် အလ္လာဟ်အရှင်မြတ်အား ဖီဆန်ခဲ့သူဖြစ်သည်။ သို့ဖြစ်ပေရာ အလ္လာဟ်အရှင်မြတ်အား ဖီဆန်ခဲ့သူကို ကိုးကွယ်ခြင်းသည် အလ္လာဟ်အရှင်မြတ်အား အကြီးဆုံး ဖီဆန်ရာမည်သည်။ ➢➢

အကယ်၍သာ အသင်သည် (မိမိ လက်ရှိ အယူဝါဒကိုလည်းကောင်း၊ မိမိအယူဝါဒနှင့်စပ်လျဉ်း၍ ကျွန်ုပ်၏ရှေ့ဝယ် ဟောပြောခြင်းကိုလည်းကောင်း၊) မစွန့်ခဲ့ပါလျှင် မလွဲဧကန် ကျွန်ုပ်သည် အသင့်အား ခဲဖြင့် ပစ်ပေါက်သတ်ရလိမ့်မည်။ ၎င်းပြင် အသင်သည် ကျွန်ုပ်အား ကာလရှည်ကြာစွာ စွန့်ထားလော့။

قَالَ سَلٰمٌ عَلَيْكَ ۚ سَاَسْتَغْفِرُ لَكَ رَبِّيْ ۭ اِنَّهٗ كَانَ بِيْ حَفِيًّا ﴿٤٧﴾

၄၇။ ထိုအခါ ထို(နဗီတမန်တော်) အီဗ်ရာဟီမ်က (မိမိဖခင်အာဇရ်အား ဤသို့)ပြောဆိုဖြေကြားခဲ့လေသည်။ (အို-ဖခင်၊ "စလာမွန်အလိုက်" ငြိမ်းချမ်းသာယာမှုသည် အသင့်အပေါ်၌ရှိပါစေ၊ (ကျွန်တော် လမ်းခွဲပါရစေ)၊ ယခုသော်ကား ကျွန်ုပ်သည် အသင် (ဖခင်)အဖို့ မိမိအား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်အထံတော်တွင် *လွတ်ငြိမ်းချမ်းသာခွင့်ကို ပန်ကြားပါတော့မည်။* ① မလွဲဧကန် ထိုအရှင်မြတ်သည် ကျွန်ုပ်အပေါ်၌ အလွန်တရာကျေးဇူးပြုတော်မူသောအရှင်မြတ်ပင် ဖြစ်တော်မူပါသည်။

وَاَعْتَزِلُكُمْ وَمَا تَدْعُوْنَ مِنْ دُوْنِ اللّٰهِ وَاَدْعُوْا رَبِّيْ ۖ عَسٰٓى اَلَّآ اَكُوْنَ بِدُعَاۗءِ رَبِّيْ شَقِيًّا ﴿٤٨﴾

၄၈။ ထိုမှတစ်ပါး ကျွန်ုပ်သည် အသင်တို့ကိုလည်းကောင်း၊ အလ္လာဟ်အရှင်မြတ်အားစွန့်၍ အသင်တို့ ဟစ်ခေါ်(တသ ကိုးကွယ်)လျက်ရှိကြသော အရာဝတ္ထုတို့ကိုလည်းကောင်း၊ (စွန့်ခွာ) ဘေးဖယ်၍နေပါတော့မည်။ ၎င်းပြင် ကျွန်ုပ်သည် မိမိအား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်အားသာလျှင် ဟစ်ခေါ်(တသ ပန်ကြား)ပါတော့မည်။

---

➤➤ ဖခင်ကြီးအာဒမ်သည် ရှိုင်တွာန်၏ဖြားယောင်းမှုကြောင့် တစ်ကြိမ်တိမ်းပါးခဲ့ရပြီ၊ သို့ပါလျက် ဖခင်ကြီးအာဒမ်၏ သားသမီးများသည် ယင်းရှိုင်တွာန်၏စကားကို နားယောင်ကြပါက လဲသေရန်ပင် ကောင်းတော့သည်။ ( اَعُوْذُ بِاللّٰهِ مِنَ الشَّيْطٰنِ الرَّجِيْمِ )

① ကာဖိရ်၊ မုရှ်ရစ်က်များအတွက် ဆုပန်ကြားခြင်း မပြုအပ်သည့်အကြောင်း၊ တမန်တော်အီဗ်ရာဟီမ်က ➤➤

(စင်စစ်) ကျွန်ုပ်သည် မိမိအား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်အား ဟစ်ခေါ်(တသပန်ကြား)၍ လိုဘမပြည့်သူ မဖြစ်နိုင်ပါ။

فَلَمَّا اعْتَزَلَهُمْ وَمَا يَعْبُدُونَ مِنْ دُونِ اللَّهِ وَهَبْنَا لَهُ إِسْحٰقَ وَيَعْقُوبَ وَكُلًّا جَعَلْنَا نَبِيًّا ۝٤٩

၄၉။ တစ်ဖန် အကြင်အခါဝယ် ယင်းအီဗ်ရာဟီမ်သည် ထိုသူတို့ကိုလည်းကောင်း၊ အလ္လာဟ်အရှင်မြတ်အား စွန့်၍ ထိုသူတို့ ကိုးကွယ်လျက်ရှိကြသော အရာဝတ္ထုများကိုလည်းကောင်း၊ (စွန့်၍) ဘေးဖယ်ခဲ့သောအခါ ငါအရှင်မြတ်သည် ထိုအီဗ်ရာဟီမ်အား (သားတော်)အစ္စဟာက်ကိုလည်းကောင်း၊ (မြေးတော်) ယအ်ကူဗ်ကိုလည်းကောင်း၊ ချီးမြှင့်ပေးသနားတော်မူခဲ့လေသည်။ ထိုမှတစ်ပါး ငါအရှင်မြတ်သည် (ယင်းအိစ်ဟာက်နှင့် ယအ်ကူဗ်တို့အနက်) အသီးသီးကို နဗီတမန်တော်အဖြစ်သို့ ချီးမြှင့်တော်မူခဲ့လေသတည်း။

وَوَهَبْنَا لَهُمْ مِنْ رَحْمَتِنَا وَجَعَلْنَا لَهُمْ لِسَانَ صِدْقٍ عَلِيًّا ۝٥٠

၅၀။ ထို့ပြင် ငါအရှင်မြတ်သည် ၎င်းတို့အား မိမိကရုဏာတော်ကို ချီးမြှင့်ပေးသနားတော်မူခဲ့သည့်ပြင် ငါအရှင်မြတ်သည် ၎င်းတို့၏ မှန်ကန်သောဂုဏ်သတင်းကိုလည်း မြင့်မြတ် (ကျော်ကြားထင်ရှား)စေတော်မူခဲ့ပေသတည်း။

وَاذْكُرْ فِي الْكِتٰبِ مُوسٰى إِنَّهُ كَانَ مُخْلَصًا وَكَانَ رَسُولًا نَبِيًّا ۝٥١

၅၁။ ထို့ပြင် (အို-နဗီတမန်တော်) အသင်သည် (ဤ)ကျမ်းဂန်မှ (နဗီတမန်တော်)မူစာ၏ အကြောင်းအတ္ထုပ္ပတ္တိကို ဖတ်ကြားပါလေ။ စေကန်မုချ ယင်းမူစာသည် အထူးရွေးချယ်တော်မူခြင်းခံရသူဖြစ်သည့်ပြင် ရစူလ်တမန်တော်လည်းဖြစ်ခဲ့၏။ နဗီတမန်တော်လည်းဖြစ်ခဲ့၏။ [၁]

➤➤ မိမိ၏ဖခင်ကြီးအတွက် ဆုပန်ကြားခဲ့ခြင်း အကြောင်းနှင့် စပ်လျဉ်း၍ ကုရ်အာန်ကျမ်းမြတ် (၉း၁၁၃-၁၁၄)တွင် မိန့်ဆိုထားတော်မူသည်။ သက်ဆိုင်ရာအဖွင့်များကို ပြန်လည်ရှုပါကုန်။

(၁) **တမန်တော်မူစာ။**

တမန်တော်မူစာသည် တမန်တော် အစ္စဟာက်၊ တမန်တော် ယအ်ကူဗ်တို့၏ မျိုးနွယ်ဆက်မှ ➤➤

➤➤ ဖြစ်သည်။ အစ္စရာအီလီ မျိုးနွယ်များတွင် ပွင့်သောတမန်တော်များအနက် ကျော်ကြားထင်ရှားသော၊ ရာဇဝင်ပြောင်မြောက်သော ကျမ်းဂန်ရ တမန်တော်တစ်ပါးလည်း ဖြစ်သည်။

ကုရ်အာန်ကျမ်းမြတ်တွင် တမန်တော်ယဟ်ယာ၊ တမန်တော်အီစာတို့၏ အကြောင်းများကို ထုတ်ဖော် မိန့်ဆိုထားတော်မူခြင်းမှာ အထူးသဖြင့် ခရစ်ယာန်များကို အမြင်မှန်ရစေတော် မူရန်ပင်ဖြစ်သည်။ တမန်တော် အီဗ်ရာဟီမ်၏အကြောင်းကို ထုတ်ဖော် မိန့်ဆိုထားတော်မူခြင်းမှာ အထူးသဖြင့် အရဗ်မုရှ်ရစ်က်တို့အား သတိပေးတော်မူရန်ပင် ဖြစ်သည်။

ထို့အတူ တမန်တော်မူစာနှင့် တမန်တော်ဟာရူန်တို့၏ အကြောင်းကို မိန့်ဆိုထားတော်မူခြင်းမှာ အထူးသဖြင့် ယဟူဒီများကို တရားပြတော် မူရန်ပင်ဖြစ်သည်။

ထို့ပြင်တစ်ဝ ကမ္ဘာတစ်သက် တည်ရှိမည့် ကုရ်အာန်ကျမ်းမြတ်တွင် သူ့တမန်တော်၊ ငါ့တမန်တော်ဟူ၍ ခွဲခြားခြင်းအလျှင်းမရှိဘဲ အမှန်အတိုင်း တမန်တော်အသီးသီးတို့၏ ဂုဏ်ရည်များကို ဖွင့်ဟထုတ်ဖော် မိန့်ကြား ထားတော်မူသည်ဖြစ်ပေရာ၊ အတိတ်ခေတ် ကျမ်းရလူမျိုးတို့သည်လည်း ၎င်းတို့၏ကျမ်းဂန်များတွင် ပါရှိခဲ့သော ဗျာဒိတ်၊ သက်သေနမိတ်များနှင့်အညီ တမန်တော်အိစ်မာအီလ်၏ မျိုးနွယ်ဆက်မှ ပွင့်လာတော်မူခဲ့သော တမန်တော်မြတ် မုဟမ္မဒ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)အားလည်း သဘောထားကြီးစွာဖြင့် လက်ခံယုံကြည် သင့်ကြပေသည်။

ထို့အတွက်ကြောင့်ပင် တမန်တော်မူစာ၏အကြောင်း နောက်တွင် တမန်တော် အိစ်မာအီလ်၏အကြောင်း ဆက်စပ်မိန့်ဆို ထားတော်မူခြင်း ဖြစ်တန်ရာသည်။

**"ရစူလ်" နှင့် "နဗီ" တို့၏ခြားနားချက်။**

"ရစူလ်" နှင့် "နဗီ" သည် အသို့ခြားနားသနည်း။ ဤတွင် အဆိုအမျိုးမျိုးရှိသည်။ အချုပ်မှာ...

"ရစူလ်"ဟူသည် မိမိပွင့်ရောက်ဟောကြားရမည့် လူမျိုးစုအား ရှရီအတ် ပဋိပတ်အသစ်ကို ဟောညွှန်ပြသော အလ္လာဟ်အရှင်မြတ်၏ တမန်တော်တည်း။ ထိုသည့် ရှရီအတ်သည် သက်ဆိုင်ရာတမန်တော်အဖို့ အသစ်ဖြစ်သည်လည်းရှိ၏။

ဥပမာ-တမန်တော် မူစာ၊ တမန်တော်မူစာ ချီးမြှင့်တော်မူခြင်းခံခဲ့ရသော တောင်ရာတ်ကျမ်းသည် တမန်တော်မူစာအဖို့လည်း အသစ်ဖြစ်ခဲ့ပေသည်။ သို့တည်းမဟုတ်၊ ရှရီအတ်သည် သက်ဆိုင်ရာတမန်တော်အဖို့ အသစ်မဟုတ်သော်လည်း ထိုတမန်တော် ဟောညွှန်ရမည့် လူမျိုးစုအဖို့မှာကား အသစ်ဖြစ်သည်လည်းရှိ၏။

ဥပမာ-တမန်တော်အိစ်မာအီလ်။ တမန်တော်အိစ်မာအီလ် ဟောကြားခဲ့သည့် ရှရီအတ်သည် တမန်တော်အီဗ်ရာဟီမ်၏ ရှရီအတ်ပင်ဖြစ်သည်။ ယင်းသည့် ရှရီအတ်သည် အသစ်မဟုတ်၊ သို့တစေလည်း တမန်တော်အိစ်မာအီလ် ပွင့်ရောက်ဟောညွှန်ခဲ့သည့် ဂျုရ်ဟွန်မ် မျိုးနွယ်စုအဖို့မှာကား အသစ်ပင်ဖြစ်ခဲ့ပေသည်။ သို့ဖြစ်ရာ တမန်တော်မူစာလည်း ရစူလ်မည်သည်၊ တမန်တော် အိစ်မာအီလ်လည်း ရစူလ် မည်သည်။

"နဗီ"ဟူသည် အလ္လာဟ်အရှင်မြတ်ထံတော်မှ ဝဟီအမိန့်တော် ချီးမြှင့်တော်မူခြင်းခံခဲ့ရသော အလ္လာဟ်အရှင်မြတ်၏ တမန်တော်တည်း။ ထိုသို့သော တမန်တော်သည် ရှရီအတ်အသစ်ကို ဟောကြားသည်လည်း ရှိ၏။ ရှရီအတ် အဟောင်းကို ဟောကြားသည်လည်းရှိ၏။

ဥပမာ- အစ္စရာအီလီမျိုးနွယ်များတွင် ပွင့်ရောက်ခဲ့သော တမန်တော်များအနက် များစွာသော တမန်တော်များ၊ ၎င်းတို့သည် နဗီများပင် ဖြစ်ခဲ့ကြပေသည်၊ တမန်တော်မူစာ၏ ရှရီအတ်ကိုပင် တစ်ဆင့် ဟောကြားခဲ့ကြပေသည်။



وَنَادَيْنَٰهُ مِن جَانِبِ ٱلطُّورِ ٱلْأَيْمَنِ وَقَرَّبْنَٰهُ نَجِيًّا ﴿٥٢﴾

၅၂။ ထို့ပြင် ငါအရှင်မြတ်သည် ယင်းမူစာအား (၎င်း၏) လက်ယာဘက်၌ရှိသော တူရ်မည်သော တောင်၏ဘက်မှ ဟစ်ခေါ်တော်မူခဲ့လေသည်။ ထိုမှ တစ်ပါးလည်း ငါအရှင်မြတ်သည် ယင်းမူစာအား လျှို့ဝှက်စကားပြောကြားသူအဖြစ် မြှောက်စားတော်မူခဲ့လေသည်။ [၁]

وَوَهَبْنَا لَهُۥ مِن رَّحْمَتِنَآ أَخَاهُ هَٰرُونَ نَبِيًّا ﴿٥٣﴾

၅၃။ ၎င်းပြင် ငါအရှင်မြတ်သည် ယင်းမူစာအား ၎င်း၏အစ်ကို ဟာရူန်ကို နဗီတမန်တော်အဖြစ်နှင့် ချီးမြှင့် ပေးသနားတော်မူခဲ့ပေသတည်း။

وَٱذْكُرْ فِى ٱلْكِتَٰبِ إِسْمَٰعِيلَ ۚ إِنَّهُۥ كَانَ صَادِقَ ٱلْوَعْدِ وَكَانَ رَسُولًا نَّبِيًّا ﴿٥٤﴾

၅၄။ ထိုမှတစ်ပါး (အို-နဗီတမန်တော်) အသင်သည် (ဤ)ကျမ်းဂန်မှ (နဗီတမန်တော်)အိစ်မာအီလ်၏အကြောင်း အတ္ထုပ္ပတ္တိကို (၎င်းတို့ရှေ့ဝယ်) ဖတ်ကြားပါလေ။ ဧကန်စင်စစ် ယင်းအိစ်မာအီလ်သည် ကတိတည်ကြည်သူဖြစ်ခဲ့သည့်ပြင် ရစူလ်တမန်တော်လည်း ဖြစ်ခဲ့၏။ နဗီတမန်တော်လည်း ဖြစ်ခဲ့၏။ [၂]

---

➢➢ **မှတ်ချက်။** "ရစူလ်"သည် နဗီ ဖြစ်သည်လည်းရှိ၏။ နဗီ မဖြစ်သည်လည်းရှိ၏။

ဥပမာ- 'မာလအ္ဓကဟ်' ကောင်းကင်တမန်များကို ရစူလ်ဟူ၍ ခေါ်ဝေါ်သုံးနှုန်း ထားတော်မူသည်၊ သို့ရာတွင် ယင်းကောင်းကင် တမန်များသည် နဗီများမဟုတ်ကြပေ။ ထို့အတူ နဗီများမှတစ်ဆင့် စေလွှတ်ခဲ့သော ကိုယ်စားလှယ်တော်များကိုလည်း ရစူလ်ဟူ၍ ခေါ်ဝေါ်သုံးနှုန်း ထားတော်မူသည်၊ သို့ရာတွင် ၎င်းတို့သည် နဗီများမဟုတ်ကြပေ။ ကြည့်-ကုရ်အာန်(၃၆:၁၃-၁၉)။ ထာနဝီ။

① တမန်တော်မူစာသည် မဒ်ယန်မှ အီဂျစ်ပြည်သို့အပြန် လမ်းခရီးတွင် ဒုက္ခဖြစ်နေစဉ် မီးကိုမြင်မိ၏။ မီးယူရန် တူရ်တောင်၏ မဂ်လာရှိသောဘက်သို့ ရောက်ရှိလာသောအခါ၊ (ထိုဘက်သည် တမန်တော်မူစာ၏ ညာဘက်တွင် တည်ရှိခဲ့၏။) အလ္လာဟ်အရှင်မြတ်သည် တမန်တော်မူစာအား အသံပြုတော်မူ၍ တိုးတိုးစွာ စကားပြောဆိုခွင့် ချီးမြှင့်တော်မူခဲ့လေသည်။ (ဤအကြောင်းကို ရှေ့လာလတ္တံ့သော "တွာဟာ" ကဏ္ဍတွင် အကျယ်ရေးသားဖော်ပြပါအံ့။)

ထိုအခါ တမန်တော်မူစာသည် အလ္လာဟ်အရှင်မြတ်၏စကားတော်ကို (စပ်ကြားတွင် ကောင်းကင်တမန် မပါရှိဘဲ အဖက်ဖက်အရပ်ရပ်မှ တိုက်ရိုက်ကြားနေခဲ့ရလေသည်။ ထိုအချိန်တွင် တမန်တော်မူစာသည် "ရူဟာနီ" နာမ်သဘောအားဖြင့် အလ္လာဟ်အရှင်မြတ်နှင့် အဘယ်မျှနီးစပ်ခဲ့ရသည်ဆိုသော် တောင်ရာတ်ကျမ်းဂန်ရေးမှတ်သော ကလောင်သံများကိုပင် ကြားခဲ့ရလေသည်။ ဤသည် တမန်တော်မူစာ၏ ထူးခြားချက်တစ်ရပ်ပင်။

وَكَانَ يَأْمُرُ أَهْلَهُ بِالصَّلٰوةِ وَالزَّكٰوةِ وَكَانَ عِنْدَ رَبِّهِ مَرْضِيًّا ﴿٥٥﴾

၅၅။ ၎င်းပြင် ယင်းအိစ်မာအီလ်သည် မိမိအိမ်သူ အိမ်သားတို့အား ဆွလာတ်ဝတ်ပြုရန်လည်းကောင်း၊ ဇကာတ်ပေးဆောင်ရန်လည်းကောင်း၊ အမိန့်ပေး ညွှန်ကြားလေ့ရှိခဲ့ပေသည်။ ထိုမှတစ်ပါး ယင်းအိစ်မာအီလ်သည် မိမိအား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်အထံတော်တွင် *နှစ်မြို့ဖွယ်လည်းဖြစ်ခဲ့ပေသတည်း၊*[၁]

وَاذْكُرْ فِي الْكِتٰبِ إِدْرِيْسَ إِنَّهٗ كَانَ صِدِّيْقًا نَّبِيًّا ﴿٥٦﴾

၅၆။ ၎င်းပြင် (အို-နဗီတမန်တော်) အသင်သည် (၎င်းတို့ရှေ့ဝယ် ဤ)ကျမ်းဂန်မှ (နဗီတမန်တော်) *အိဒ်ရီစ်၏*[၂] အကြောင်းအတ္ထုပ္ပတ္တိကို ဖတ်ကြားပါလေ။ ဧကန်အမှန်ပင် ယင်းအိဒ်ရီစ်သည် သစ္စာဝါဒီဖြစ်ခဲ့၏။ နဗီတမန်တော်ဖြစ်ခဲ့၏။

---

(၂) **တမန်တော်အိစ်မာအီလ်။**

တမန်တော်အိစ်မာအီလ်၏ ခမည်းတော်မှာ တမန်တော် အီဗ်ရာဟီမ်ဖြစ်သည်၊ မယ်တော်မှာ အီဂျစ်ဘုရင်၏သမီးတော် ဟာဂျရဟ်ဖြစ်သည်။ အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်အရ တမန်တော် အီဗ်ရာဟီမ် ကုရ်ဗာနီပြုခဲ့သော သားတော်မှာလည်း တမန်တော် အိစ်မာအီလ်ပင်ဖြစ်သည်။ တမန်တော် အိစ်မာအီလ်သည် "ရစူလ်" လည်းဖြစ်သည်၊ "နဗီ" လည်းဖြစ်သည်။

တမန်တော် အိစ်မာအီလ်သည် အာရဗ်နိုင်ငံ ဟေ့ဂျာဇ်ပြည်၏ မျိုးဘလည်းဖြစ်သည်။ တမန်တော်မြတ် မုဟမ္မဒ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် တမန်တော်အိစ်မာအီလ်၏ မျိုးနွယ်ဝံသမှပင် ဖြစ်တော်မူသည်။ တမန်တော် အိစ်မာအီလ်သည် မိမိ၏ဖခင်ကြီး တမန်တော်အီဗ်ရာဟီမ်၏ ရှရီအတ်ကိုပင် ဂျုရ်ဟွမ်မျိုးနွယ်တို့အား ဟောကြားခဲ့လေသည်။

တမန်တော် အိစ်မာအီလ်သည် ကတိတည်မှုတွင် အထူးကျော်ကြားခဲ့ပေသည်။ အလ္လာဟ်အရှင်မြတ်နှင့် ပတ်သက်၍ဖြစ်စေ၊ လူသားတို့နှင့်ပတ်သက်၍ဖြစ်စေ၊ မိမိပြုခဲ့သည့် ကတိများကို စွမ်းလွန်းတမံ ပြည့်ဝစေခဲ့သည်သာ ဖြစ်ခဲ့ပေသည်။ တစ်ခါသော် တမန်တော် အိစ်မာအီလ်က ပုဂ္ဂိုလ်တစ်ဦးအား "အသင် ပြန်လာသည်အထိ ကျွန်ုပ်စောင့်ဆိုင်းမည်" ဟု ကတိပြုခဲ့လေသည်။ ထိုပုဂ္ဂိုလ်သည် သုံးရက်တိုင်တိုင် ပေါ်မလာခဲ့ချေ။ သို့ရာတွင် တမန်တော် အိစ်မာအီလ်သည် မိမိ၏ကတိအတိုင်း ထိုနေရာ၌ပင် စောင့်၍နေတော် မူခဲ့လေသည်။

တမန်တော်အိစ်မာအီလ်အကြောင်းကို ကုရ်အာန်(၂း၁၂၅)တွင် ပြန်လည်ရှုပါကုန်။

(၁) တမန်တော် အိစ်မာအီလ်သည် အလ္လာဟ်အရှင်မြတ်ထံတော်၌ အလွန်နှစ်မြို့ဖွယ်ဖြစ်သော တမန်တော်တစ်ပါး ဖြစ်ခဲ့ပေသည်။ အလ္လာဟ်အရှင်မြတ် ထံတော်၌ ထိုအရှင်မြတ်၏ အမိန့်ပညတ် အရပ်ရပ်ကို တိကျလိုက်နာ ဆောင်ရွက်သော ပုဂ္ဂိုလ်မွန် ပုဂ္ဂိုလ်မြတ်တို့သာလျှင် နှစ်မြို့တော်မူခြင်းကို ခံကြရပေသည်။ တမန်တော်အိစ်မာအီလ် သည် အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်အရ ကုရ်ဗာနီပြုလုပ်ရန်အတွက် မိမိ၏လည်ကို ကြည်ဖြူစွာ စင်းပေးခဲ့သည် မဟုတ်ပါလော၊ ဤသည် တမန်တော်အိစ်မာအီလ်၏ အလွန်ထူးမြတ်သော ဂုဏ်ပုဒ်တစ်ပါးပင်။

وَّرَفَعْنٰهُ مَكَانًا عَلِيًّا ﴿٥٧﴾

၅၇။ ထို့ပြင် ငါအရှင်မြတ်သည် ယင်းအိဒ်ရီစ်အား မြင့်မြတ်သော နေရာဌာနသို့ ချီးမြှင့်မြှောက်စားတော်မူခဲ့ပေသတည်း။

أُولٰٓئِكَ الَّذِيْنَ اَنْعَمَ اللّٰهُ عَلَيْهِمْ مِّنَ النَّبِيّٖنَ مِنْ ذُرِّيَّةِ اٰدَمَ وَمِمَّنْ حَمَلْنَا مَعَ نُوْحٍ وَّمِنْ ذُرِّيَّةِ اِبْرٰهِيْمَ وَاِسْرَآءِيْلَ وَمِمَّنْ هَدَيْنَا وَاجْتَبَيْنَا ۚ اِذَا تُتْلٰى عَلَيْهِمْ اٰيٰتُ الرَّحْمٰنِ خَرُّوْا سُجَّدًا وَّبُكِيًّا ۩ ﴿٥٨﴾

၅၈။ အလ္လာဟ်အရှင်မြတ် ကျေးဇူးပြုတော်မူခဲ့သော ဤသူတို့ကား ဤနဗီတမန်တော်များပင်တည်း။ အချို့မှာ အာဒမ်၏သားသမီးများ၊ အချို့မှာ ငါအရှင်မြတ်သည် (နဗီတမန်တော်)နူဟ်နှင့်အတူ (သင်္ဘောပေါ်တွင်) တင်ဆောင်တော်မူခဲ့သော သူတို့၏သားသမီးများ၊ အချို့မှာ အိဗ်ရာဟီမ်၏သားသမီးများ၊ အချို့မှာ အစ္စရာအီလ်၏ သားသမီးများ ဖြစ်ကြပေသည်။ [1] ထို့ပြင် ၎င်းတို့အားလုံးမှာ ငါအရှင်မြတ် တရားလမ်းမှန် ညွှန်ပြတော်မူခဲ့သော၊ (ငါအရှင်မြတ်) ရွေးချယ်တော်မူခဲ့သော သူတို့အနက်မှလည်း ဖြစ်ခဲ့ကြကုန်သည်။

မည်သည့်အခါမျိုးမဆို ထိုသူတို့ရှေ့ဝယ် ရဟ်မာန် အနန္တကရုဏာတော်ရှင်၏ အာယတ်တော်များကို ဖတ်ကြားခဲ့ပါလျှင်၊ ထိုသူတို့သည် *ပျပ်ဝပ်ဦးချလျက်လည်းကောင်း၊ ငိုကြွေးကြလျက်လည်းကောင်း၊ (မြေသို့) ကျလာကြကုန်သတည်း။* [2]

---

(၂) **တမန်တော် အိဒ်ရီစ်။**

တမန်တော်အိဒ်ရီစ်၏ အမည်ကို ကုရ်အာန်ကျမ်းမြတ်တွင် နှစ်နေရာ၌ တွေ့ရှိရပေသည်။

ကြည့်-ကုရ်အာန် (၁၉:၅၆။ ၂၁:၈၅)။

(၁) ဤကဏ္ဍအစမှ ဤနေရာအထိ အချို့တမန်တော်များ၏ အကြောင်းများ ပါရှိခဲ့သည်။ ယင်းတမန်တော်များအား အလ္လာဟ်အရှင်မြတ်သည် အထူးတလည် ကျေးဇူးပြုတော်မူခဲ့သည်။ ၎င်းတို့ အားလုံးသည် ဖခင်ကြီးအာဒမ်၏ သားသမီးများပင် ဖြစ်ခဲ့ကြပေသည်။ တမန်တော် အိဒ်ရီစ်မှအပ ကျန်အားလုံးတို့သည် တမန်တော် နူဟ်နှင့်တကွ သင်္ဘောပေါ်တွင် အလ္လာဟ်အရှင်မြတ် တင်ဆောင်ကယ်တင်တော် မူခဲ့သော ပုဂ္ဂိုလ်များ၏ သားသမီးများလည်း ဖြစ်ခဲ့ကြပေသည်။ အချို့တို့သည် တမန်တော် အိဗ်ရာဟီမ်၏ သားသမီးများ ဖြစ်ခဲ့ကြပေသည်။ ဥပမာ-တမန်တော် အိစ်ဟာက်၊ တမန်တော်ယအ်ကူဗ်၊ တမန်တော် အိစ်မာအီလ်၊ အချို့မှာ တမန်တော် အိစ်ရာအီလ်(ယအ်ကူဗ်)၏ သားသမီးများ ဖြစ်ခဲ့ကြပေသည်။ ဥပမာ-တမန်တော်မူစာ၊ တမန်တော် ဟာရူန်၊ တမန်တော် ဇကရီယာ၊ တမန်တော်ယဟ်ယာ၊ တမန်တော် အီစာ။

**(တစ်နည်း)**

အလ္လာဟ်အရှင်မြတ် ကျေးဇူးပြုတော်မူခဲ့သော သူတို့ကား အာဒမ်၏ သားသမီးများအနက်မှလည်းကောင်း၊ ငါအရှင်မြတ်သည် နူဟ်နှင့်အတူ (သင်္ဘောပေါ်တွင်) တင်ဆောင်တော်မူခဲ့သော သူတို့၏သားသမီးများအနက်မှလည်းကောင်း၊ အီဗ်ရာဟီမ်၏သားသမီးများအနက်မှလည်းကောင်း၊ အစ္စရာအီလ်၏သားသမီးများအနက်မှလည်းကောင်း၊ နဗီတမန်တော်များပင် ဖြစ်ကြသည့်ပြင် ငါအရှင်မြတ် တရားလမ်းမှန် ညွှန်ပြတော်မူခဲ့သော၊ ငါအရှင်မြတ် ရွေးချယ်တော်မူခဲ့သောသူတို့ အနက်မှလည်း၊ ဖြစ်ခဲ့ကြကုန်၏။

မည်သည့်အခါမျိုးမဆို ထိုသူတို့ ရှေ့ဝယ် ရဟ်မာန် အနန္တကရုဏာတော်ရှင်၏ အာယတ်တော်များကို ဖတ်ကြားခဲ့သည်ရှိသော်၊ ထိုသူတို့သည် ပျပ်ဝပ်ဦးချကြလျက်လည်းကောင်း၊ ငိုကြွေးကြလျက်လည်းကောင်း၊ (မြေပေါ်သို့)ကျလာကြကုန်သတည်း။

၅၉။ တစ်ဖန် ၎င်းတို့နောက်တွင် အကြင်ဆိုးရွားသော အရိုက်ရာဆက်ခံသူတို့က ရိုက်ရာဆက်ခံခဲ့ကြကုန်၏။ ၎င်းတို့သည် ဆွလာတ်ဝတ်ပြုမှုကို ဖျက်ဆီးခဲ့ကြ၏။

فَخَلَفَ مِنۢ بَعۡدِهِمۡ خَلۡفٌ
اَضَاعُوا الصَّلٰوةَ وَاتَّبَعُوا

---

(၂) တမန်တော်များသည် ကြီးကဲမြင့်မြတ်လှသော ဂုဏ်အင်ဒြဗ်များနှင့် ပြည့်စုံကြပါသော်လည်း အလ္လာဟ်အရှင်မြတ်၏ကျွန်များပင် ဖြစ်ကြပေသည်။ ထိုအရှင်မြတ်အား စွမ်းလွန်းတမ် ဆည်းကပ်ကိုးကွယ်ကြပေသည်။ ၎င်းတို့၏ ရှေ့မှောက်တွင် အလ္လာဟ်အရှင်မြတ်၏ အာယတ်တော်များကို ရွတ်ဖတ်သရဇ္ဈာယ်ပါလျှင် ဖရဏာပီတိ ဂွမ်းဆီထိဘိသကဲ့သို့ မမ္မပီတိဖြစ်၍ ထိုအရှင်မြတ်အား ဦးချကြပေသည်။ ငိုကြွေးကြပေသည်၊

ထို့အတွက် ထိုထိုသောတမန်တော်များ၏ ထုံးကိုနလုံးမူ၍ ဤအာယတ်တော်ကို ရွတ်ဖတ်သရဇ္ဈာယ်သောအခါ "စဂျ်ဒဟ်" ပြုသင့်သည်၊ ဦးချသင့်သည်ဟု အာလင်မ်ပညာရှင်များက တညီတညွတ်တည်း အဆုံးအဖြတ် ပေးကြသည်။

الشَّهَوٰتِ فَسَوْفَ يَلْقَوْنَ غَيًّا ﴿٥٩﴾

(မိမိတို့) စိတ်အလိုဆန္ဒများကို လိုက်စားခဲ့ ကြ၏။ သို့ဖြစ်ပေရာ ၎င်းတို့သည် မကြာမြင့်မီပင် ပျက်စီးမှုနှင့် တွေ့ကြုံရင်ဆိုင်ကြရပေမည်။ [၁]

إِلَّا مَن تَابَ وَءَامَنَ وَعَمِلَ صَٰلِحًا فَأُو۟لَٰٓئِكَ يَدْخُلُونَ ٱلْجَنَّةَ وَلَا يُظْلَمُونَ شَيْـًٔا ﴿٦٠﴾

၆၀။ အကြင်သူမှတစ်ပါး ထိုသူသည် ဝန်ချ တောင်းပန်ခဲ့လေသည်။ ၎င်းပြင် ထိုသူသည် သက်ဝင်ယုံကြည်ခဲ့လေသည်။ ထိုမှတစ်ပါး ထိုသူသည် ကောင်းမြတ်သောအကျင့်သီလများကိုလည်း ကျင့်မှုဆောက်တည်ခဲ့လေသည်။ သို့ဖြစ်လျှင် ထို(ကဲ့သို့သော)သူတို့မူကား ဂျန္နတ်သုခဘုံသို့ လားကြရပေမည်။ ၎င်းပြင် ထိုသူတို့သည် (မိမိတို့၏ကုသိုလ်အကျိုးများမှ) အနည်းငယ်စိုးစဉ်းမျှပင် လျော့နည်းစေခြင်းကို ခံကြရမည် မဟုတ်ပေ။ [၂]

---

(၁) အထက်တွင် အလ္လာဟ်အရှင်မြတ်အား အထူးရိုသေခန့်ညားကြသော သူတော်စင်များ၏အကြောင်း မိန့်ဆိုထားတော်မူသည်။ ဤအာယတ်တော်တွင် လောကီစည်းစိမ်များတွင် နစ်မွန်း၍ အလ္လာဟ်အရှင်မြတ်အားမေ့ကာ အစ္စလာမ်၏ အခြေခံဝတ်ပြုမှုဖြစ်သော ဆွလာတ်ကိုပင် ဖျက်ဆီးထားကြသော၊ ဆိုးသွမ်းလှသော အရိုက်အရာဆက်ခံသူများ၏ အကြောင်းကို ဆက်စပ်မိန့်ဆို ထားတော်မူသည်။ ဤသို့သောသူများသည် အရှုံးကြီးရှုံး၍ ပျက်စီးခြင်းကြီးမက ပျက်စီးကြရပေမည်။

ဆွလာတ်သည် အစ္စလာမ်၏ ဝတ်ပြုမှုများတွင် အချုပ်ပင်ဖြစ်သည်၊ ထို့အတွက်ကြောင့် ဤအာယတ်တော်တွင် ဆွလာတ်ကို အထူးတလည် ထုတ်ဖော်မိန့်ဆို ထားတော်မူခြင်းဖြစ်သည်၊ ဤမျှအရေးကြီးသော ဆွလာတ်ကို ကျောခိုင်းဝံ့သူတစ်ဦးသည် သာသာနာ၏ အခြားကျင့်စဉ်ကျင့်ရပ်များကိုမူ ရှိသည်ဟူ၍ပင် ထင်မှတ်မည် မဟုတ်ပေ။

ဆွလာတ်ကို ဖျက်ဆီးသူများတွင် ဆွလာတ်ဖရည်ဖြစ်သည်ကိုပင် ငြင်းဆိုသူများ၊ ဆွလာတ်ဖရည်ဖြစ်သည်ကို သိပါလျက် ဆွလာတ်ဝတ်မပြုသူများ၊ ဆွလာတ်ဝတ်ပြုသော်လည်း ဂျမာအတ်နှင့် ဝတ်မပြုသူများ၊ အချိန်မှန်မှန် ဆွလာတ်ဝတ်မပြုသူများ၊ ဆွလာတ်ဝတ်ပြုရာတွင် လိုက်နာကျင့်သုံးအပ်သည့် စည်းကမ်းချက်များကို မထောက်ထားသူများ အားလုံးတို့သည် ပြစ်မှုအလျောက် အဆင့်ဆင့် အကျုံးဝင်ကြပေသည်။

(၂) လူသားတစ်ဦးသည် ယခင်က အဘယ်မျှပင် မိုက်မှားခဲ့သော်လည်း အကယ်၍ စိတ်စေတနာ ဖြူစင်စွာဖြင့် အလ္လာဟ်အရှင်မြတ်ထံတော်၌ မိမိ၏အမှားကို ဝန်ချတောင်းပန်အသနားခံ၍ အမှန်တကယ် "အီမာန်" ယုံကြည်ပါသော်၊ ကောင်းမွန်မြင့်မြတ်သော အကျင့်သီလများကို ဆောက်တည်ပါသော်၊ ထို့နောက် မိမိ အသက်ထက်ဆုံး မိမိ၏အကျင့်သီလများကို မဖောက်မပြန်ဘဲ အမြဲတစေ ထိန်းသိမ်းသွားပါသော် ထိုသို့သောသူများအဖို့ "တောင်ဗဟ်" ၏ တံခါးများလည်း ပွင့်လျက်ရှိပေသည်။ ဂျန္နတ်၏တံခါးများလည်း ပွင့်လျက်ရှိပေသည်။ ➢➢

جَنّٰتِ عَدۡنِ ۣالَّتِیۡ وَعَدَ الرَّحۡمٰنُ عِبَادَهٗ بِالۡغَیۡبِ ؕ اِنَّهٗ كَانَ وَعۡدُهٗ مَاۡتِیًّا ﴿٦١﴾

၆၁။ (၎င်းတို့သည်) အကြင်ထာဝရ ဥယျာဉ်များသို့ (လားကြရပေမည်)။ "ရဟ်မာန်" အနန္တကရုဏာတော်ရှင်သည် မိမိကျွန်များအား (၎င်းတို့) မမြင်ဘဲလျက် အကျေအပွန် ဆောင်ရွက်ပြီးသာဖြစ်လိမ့်မည်။ ၁

لَا یَسۡمَعُوۡنَ فِیۡهَا لَغۡوًا اِلَّا سَلٰمًا ؕ وَلَهُمۡ رِزۡقُهُمۡ فِیۡهَا بُكۡرَةً وَّعَشِیًّا ﴿٦٢﴾

၆၂။ ၎င်းတို့သည် ယင်းဂျန္နတ်သုခဘုံ၌ စလာမ်မေတ္တာပို့သခြင်းမှတစ်ပါး အချည်းနှီးသောစကားလုံးကို လုံး၀ ကြားကြရလိမ့်မည် မဟုတ်ပေ။ ထိုမှတစ်ပါး ၎င်းတို့အဖို့ ယင်းဂျန္နတ်သုခဘုံ၌ ၎င်းတို့၏စားသောက်ဖွယ်ရာများသည် နံနက်ယံ၌လည်းကောင်း၊ ညနေချမ်း၌လည်းကောင်း၊ ရှိချေအံ့သတည်း။

تِلۡكَ الۡجَنَّةُ الَّتِیۡ نُوۡرِثُ مِنۡ عِبَادِنَا مَنۡ كَانَ تَقِیًّا ﴿٦٣﴾

၆၃။ ဤသည် အကြင် ဂျန္နတ်သုခဘုံတည်း။ ငါအရှင်မြတ်သည် မိမိ၏ကျွန်များအနက် (ငါအရှင်မြတ်အား ကြောက်ရွံ့ရှိသေသောအားဖြင့်) ပြစ်မှုဒုစရိုက်များမှ ရှောင်ကြဉ်သောသူများ)အား အမွေဆက်ခံစေတော်မူမည် ဖြစ်သတည်း။

وَمَا نَتَنَزَّلُ اِلَّا بِاَمۡرِ رَبِّكَ ۚ لَهٗ مَا بَیۡنَ اَیۡدِیۡنَا وَمَا خَلۡفَنَا وَمَا بَیۡنَ ذٰلِكَ ۚ وَمَا كَانَ رَبُّكَ نَسِیًّا ﴿ۚ٦٤﴾

၆၄။ စင်စစ် ကျွန်ုပ်တို့(ကောင်းကင်တမန်များ)သည် အသင်အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်၏ အမိန့်တော်မရှိဘဲလျက် ဆင်းသက်ကြသည် မဟုတ်ပေ။ ကျွန်ုပ်တို့ရှေ့၌ရှိသောအရာများသည်လည်းကောင်း၊ ကျွန်ုပ်တို့၏နောက်၌ရှိသော အရာများသည်လည်းကောင်း၊ ယင်း၏အကြား၌ရှိသောအရာများသည်လည်းကောင်း၊ ထိုအရှင်မြတ် ပိုင်ဆိုင်တော်မူသောအရာများသာလျှင် ဖြစ်ကုန်၏။

---

➤➤ ဝန်ချတောင်းပန် အသနားခံပြီးနောက် ဆည်းပူးခဲ့သော ကုသိုလ်အကျိုးများကိုလည်း အပြည့်အဝ ခံစားကြရပေမည်၊ ယခင်က ပြစ်မှားမိခဲ့သည်များကို အကြောင်းပြု၍ နောင်ဆည်းပူးခဲ့သော ကုသိုလ်အကျိုးများတွင် အနည်းငယ်စိုးစဉ်းမျှ လျော့ပေါ့ခြင်း ခံကြရမည်လည်း မဟုတ်ပေ။

(၁) မုအ်မင်န်သူတော်စင်များသည် တမန်တော်မြတ်၏ဟောကြားချက်အရ မိမိတို့ လက်ရှိမံသစက္ခုဖြင့် မဖူးမြင်ရသေးသော အလ္လာဟ်အရှင်မြတ်နှင့်တကွ မတွေ့မမြင်ရသေးသော အရာများကို ယုံကြည်လာကြပေရာ၊➤➤

စင်စစ် အသင်အား ဖန်ဆင်း မွေးမြူတော်မူသောအရှင်မြတ်သည် မေ့လျော့တော်မူသောအရှင် အလျှင်း မဟုတ်ပေ။

رَبُّ السَّمٰوٰتِ وَالْاَرْضِ وَمَا بَيْنَهُمَا فَاعْبُدْهُ وَاصْطَبِرْ لِعِبَادَتِهٖ ؕ هَلْ تَعْلَمُ لَهٗ سَمِيًّا ﴿٦٥﴾

၆၅။ (ထိုအရှင်မြတ်သည်) မိုးကောင်းကင်များကိုလည်းကောင်း၊ ပထဝီမြေကိုလည်းကောင်း၊ ယင်းမိုးကောင်းကင်နှင့် ပထဝီမြေနှစ်ခုစလုံး၏ အကြား၌ရှိသမျှတို့ကိုလည်းကောင်း၊ ဖန်ဆင်းတော်မူသောအရှင်မြတ်ပင် ဖြစ်တော်မူပေသည်။ သို့ဖြစ်ပေရာ အသင်သည် ထိုအရှင်မြတ်အားခဝပ်ကိုးကွယ်ပါလေ။ ၎င်းပြင် ထိုအရှင်မြတ်အား ခဝပ်ကိုးကွယ်ရာ၌ တည်ကြည်စွဲမြဲစွာ ရှိပါလေ။ [၁]

---

➤➤ အလ္လာဟ်အရှင်မြတ်က ထိုသို့သော သူတော်စင်များအား ၎င်းတို့ မမြင်ရသေးသော ဂျန္နတ်၏ အမတသုခများ ချီးမြှင့်တော်မူမည့်အကြောင်း ကတိပြုတော်မူလေသည်။ ထိုအရှင်မြတ်၏ ကတိတော်သည် ပျက်ကွက်သည်ဟူ၍ အလျှင်းမရှိ၊ အတည်ဖြစ်သည်သာတည်း။

(၁) တမန်တော်မြတ်ထံသို့ မကြာခဏ ဆင်းသက်လာလေ့ရှိသော ကောင်းကင်တမန် ဂျစ်ဗ်ရီလ်သည် တစ်ကြိမ်သော် ရက်အတော်အတန် ကြာသည်အထိ တမန်တော်မြတ်ထံသို့ ဆင်းသက်မလာခဲ့ပေရာ၊ တမန်တော်မြတ်သည် စိတ်မကြည်မသာ ဖြစ်နေတော်မူခဲ့၏။ ထို့ပြင်တဝ ကာဖိရ်များကလည်း "မုဟမ္မဒ်အား ၎င်း၏အရှင်က အမျက်ထွက်၍ စွန့်ပစ်ထားလိုက်ပြီ" ဟု ပြောဆိုခဲ့ကြ၏။ ထို့အတွက်ကြောင့် တမန်တော်မြတ်သည် ပို၍ပင် စိတ်ပျက်၍နေတော်မူခဲ့၏။ တမန်တော်မြတ်သည် ကောင်းကင်တမန်အား အမျှော်ကြီး မျှော်နေတော်မူခဲ့၏။

နောက်ဆုံးတွင် ကောင်းကင်တမန် ဂျစ်ဗ်ရီလ်သည် ဆင်းသက်လာခဲ့လေသည်။ ထိုအခါ တမန်တော်မြတ်က ဝမ်းသာမဆုံးဖြစ်ပြီး ကောင်းကင်တမန် ဂျစ်ဗ်ရီလ်အား "အသင်သည် ဤမျှေ့ဤမျှရက်များ ကြာညောင်းသည်အထိ အဘယ်ကြောင့် ဆင်းသက်မလာခဲ့ပါသနည်း" ဟု မေးမြန်းတော်မူခဲ့လေသည်။ ဟဒီဆ်သြဝါဒတော်တွင် ( مايمنعك ان تزورنا اكثر مما تزورنا ) 'အသင်သည် ကျွန်ုပ်ထံသို့ ယခု ဆင်းသက်လာနေသည်ထက် ပိုမို၍ အဘယ်ကြောင့် ဆင်းသက်မလာပါသနည်း' ဟု မေးမြန်းတော်မူခဲ့လေသည်။

ထိုအခါကောင်းကင်တမန် ဂျစ်ဗ်ရီလ်က မိမိအား အလ္လာဟ်အရှင်မြတ် သင်ကြားညွှန်ပြတော်မူသည့်အတိုင်း "ကျွန်ုပ်တို့ ကောင်းကင်တမန်များသည် အသင့်အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၏ အမိန့်တော်မပါရှိဘဲလျက် ဆင်းသက်ကြသည် မဟုတ်ပါ" ဟု ဖြေဆိုခဲ့လေသည်။ ဆိုလိုသည်ကား ကျွန်ုပ်တို့ ကောင်းကင်တမန်များသည် အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်များကို တစ်သဝေမတိမ်း လိုက်နာကျင့်မူကြရသော အစေတော်များ ကျွန်များဖြစ်ကြပါသည်။ အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်မရှိပါက ကျွန်ုပ်တို့သည် အနည်းငယ်စိုးစဉ်းမျှပင် ရွေ့ပါးလှုပ်ရှား နိုင်ကြသည်မဟုတ်ပါ။ ➤➤

وَيَقُولُ الْإِنسَانُ أَإِذَا مَا مِتُّ لَسَوْفَ أُخْرَجُ حَيًّا ﴿٦٦﴾

၆၆။ စင်စစ် လူသားသည် (ပြက်ရယ်သောအားဖြင့် ဤသို့)ပြောဆိုလေသည်။ အသို့ပါနည်း၊ ကျွန်ုပ် သေဆုံးပြီးနောက် (ပြန်လည်၍) အသက်ရှင်လျက် (သင်္ချိုင်းတွင်းမှ) ထွက်စေခြင်းကို ခံရဦးမည်လော။

أَوَلَا يَذْكُرُ الْإِنسَانُ أَنَّا خَلَقْنَاهُ مِن قَبْلُ وَلَمْ يَكُ شَيْئًا ﴿٦٧﴾

၆၇။ (ယင်း)လူသားသည် ယခင်က ၎င်းဘာမျှ မရှိခဲ့ စဉ်အခါ၌ ငါအရှင်မြတ်သည်ပင် ၎င်းအား ဖန်ဆင်း တော်မူခဲ့သည်ကို သတိမရလေသလော။

فَوَرَبِّكَ لَنَحْشُرَنَّهُمْ وَالشَّيَاطِينَ ثُمَّ لَنُحْضِرَنَّهُمْ حَوْلَ جَهَنَّمَ

၆၈။ ထို့နောက် အသင်အား ဖန်ဆင်းမွေးမြူတော် မူသောအရှင်မြတ်၏ "ကစမ်"၊ မလွဲဧကန် ငါအရှင်မြတ် သည် ထိုသူတို့အားလည်းကောင်း၊ ရှိုင်တွာန်မိစ္ဆာကောင် တို့အားလည်းကောင်း၊ စုရုံးတော်မူပြီးလျှင်

➤➤ တမန်တော်မြတ်ထံသို့ ဆင်းသက်လာခြင်းမှာလည်း ထိုအရှင်မြတ်၏ အမိန့်တော် အရသာဖြစ်ပါသည်။ ထိုအရှင်မြတ်၏ အမိန့်တော်မပါရှိဘဲလျက် ကျွန်ုပ်တို့သည် အဘယ်တစ်စုံတစ်ရာကိုမျှ ပြုလုပ်ကြသည် မဟုတ်ပါ။ အဘယ်ကြောင့်ဆိုသော် အတိတ်၊ အနာဂါတ်၊ ပစ္စုပ္ပန် စသည့်အားလုံးသော အချိန်ကာလများ၊ မိုး၊ မြေ၊ နေ၊ လ၊ ကမ္ဘာစကြာဝဠာ စသည့်နေရာဌာနများနှင့် စပ်လျဉ်းသည့် အရေးကိစ္စအဝဝတို့ကို ထိုအရှင်မြတ်သည် သာလျှင် အသိဆုံးဖြစ်တော်မူသည်။ အရာခပ်သိမ်းကုန်တို့ကိုလည်း ထိုအရှင်မြတ်သည်သာလျှင် ပိုင်ဆိုင်တော် မူသည်။ မည်သည့်အချိန်၊ မည်သည့်ဌာနတွင် မည်သည့်ကိစ္စဖြင့် ကောင်းကင်တမန်များအား တမန်တော်များထံသို့ စေလွှတ်သင့်သည်ကိုလည်း ထိုအရှင်မြတ်သည်သာလျှင် အသိဆုံးဖြစ်တော်မူသည်။ အမြင့်မြတ်ဆုံးသော တမန်တော်နှင့် အမြင့်မြတ်ဆုံးသော ကောင်းကင်တမန်၌ပင် မိမိ၏အလိုဆန္ဒအလျောက် ဆင်းသက်ပိုင်ခွင့်၊ တစ်ဦးတစ်ယောက်အား ခေါ်ဆောင်ပိုင်ခွင့် အလျှင်းမရှိပေ။

အလ္လာဟ်အရှင်မြတ် အလုံးစုံကို သိမြင်တော်မူသော ဉာဏ်တော်ရှင်ဖြစ်တော်မူသည်၊ ထိုအရှင်မြတ်သည် ကာလ်၊ ဒေသ်၊ အင်္ဂါကို ကောင်းစွာသိတော်မူသည်။ ကာလ်၊ ဒေသ်၊ အင်္ဂါကို ထောက်ချင့်၍ အရေးကိစ္စအဝဝကို လျော်ကန်သင့်မြတ်စွာ ပြုစီရင်တော်မူသည်။ ထိုအရှင်မြတ်၌ မေ့မှားခြင်းအလျှင်းမရှိ။ သို့ဖြစ်ပေရာ ထိုအရှင်မြတ်သည် တမန်တော်မြတ်ထံသို့ ကောင်းကင်တမန်အား စေလွှတ်သင့်သည့်အချိန်တွင် စေလွှတ်တော် မူသည်။ နှေးခြင်း၊ မြန်ခြင်းသည် ထိုအရှင်မြတ်၏ အမိန့်တော်အရသာ ဖြစ်သည်ဟူ၏။ သို့ဖြစ်ပေရာ တမန်တော်မြတ်သည် "ဝဟီ" အမိန့်တော်များ ကြန့်ကြာသည့် အတွက်ကြောင့်သော် လည်းကောင်း၊ ကာဖိရ်များ၏ ပြောဆိုမှုများကြောင့်သော် လည်းကောင်း စိတ်မကြည်မသာ ဖြစ်ရန်မလိုပေ။ ထိုထိုသော ဂုဏ်တော်များနှင့် ပြည့်စုံတော်မူသော၊ ဂုဏ်ရည်တုကင်းသော အလ္လာဟ် အရှင်မြတ်အားသာလျှင် စွဲမြဲစွာ ဆည်းကပ် ကိုးကွယ် ရပေမည်။

جِثِيًّا ۝٦٨

မုချအမှန် ငါအရှင်မြတ်သည် ၎င်းတို့အား ဂျဟန္နမ်ငရဲဘုံ၏ ပတ်ဝန်းကျင်၌ ပုဆစ်ဒူးတုပ်လျက် အသင့်ရောက်ရှိစေ တော်မူပေမည်။ [၁]

ثُمَّ لَنَنْزِعَنَّ مِنْ كُلِّ شِيعَةٍ أَيُّهُمْ أَشَدُّ عَلَى الرَّحْمَٰنِ عِتِيًّا ۝٦٩

၆၉။ ထို့နောက် အမှန်ပင် ငါအရှင်မြတ်သည် အုပ်စု အသီးသီးမှ "ရဟ်မာန်" အနန္တကရုဏာတော်ရှင်အား အပြင်းထန်ဆုံး ပုန်ကန်သူတို့ကို (ရွေးချယ်) ထုတ်ယူ တော်မူပေမည်။

ثُمَّ لَنَحْنُ أَعْلَمُ بِالَّذِينَ هُمْ أَوْلَىٰ بِهَا صِلِيًّا ۝٧٠

၇၀။ တစ်ဖန် ဧကန်မလွဲ ယင်းဂျဟန္နမ် ငရဲဘုံ၌ မီးလောင်စေရန်၊ ပစ်ချရန်၊ အထိုက်တန်ဆုံးသောသူ တို့အား ငါအရှင်မြတ်သည်ပင် အသိဆုံးဖြစ်တော်မူပေ သည်။

وَإِنْ مِنْكُمْ إِلَّا وَارِدُهَا ۚ كَانَ عَلَىٰ رَبِّكَ حَتْمًا مَقْضِيًّا ۝٧١

၇၁။ စင်စစ် အသင်တို့အနက် လူတိုင်းလူတိုင်းသည် ယင်းဂျဟန္နမ်ငရဲဘုံ၌ ဆိုက်ရောက်ရမည့်သူချည်း ဖြစ်ကုန်၏။ [၂] (ဤသည်) အသင့်အား ဖန်ဆင်းမွေးမြူ တော်မူသောအရှင်မြတ်က မိမိအပေါ်၌ ယတိပြတ် ဆုံး ဖြတ်ပြီးဖြစ်သောတာဝန်တစ်ရပ်ပင် ဖြစ်ချေသတည်း။

---

(၁) သေပြီးနောက် ပြန်လည်ရှင်ထရမည်ကို ငြင်းဆန်သောသူများနှင့် ၎င်းတို့အား လှည့်ဖြားလမ်းမှားစေသော ရှိုင်တွာန်များသည် ဖမ်းဆီးချုပ်နှောင်ခြင်းခံရပြီး ကိုယ့်အဖွဲ့၊ ကိုယ့်အတွဲနှင့် အသီးသီး အလ္လာဟ်အရှင်မြတ်၏ ရှေ့တော်မှောက်သို့ ခေါ်ဆောင်သွတ်သွင်းခြင်း ခံကြရပေမည်။ ထိုမှတဆင့် ၎င်းတို့သည် ဂျဟန္နမ်၏ အနီးသို့ ခေါ်ဆောင်လာခြင်း ခံကြရပေမည်။

ထိုအခါ ၎င်းတို့သည် အကြောက်ကြီးကြောက်ပြီး မတ်တပ်ရပ်နေရာမှ ဒူးတုပ်ထိုင်ကြပေမည်။ ထို့နောက် အုပ်စုတိုင်းမှ အထူးတလည် မောက်မာပလွှား ဝါကြွားဆိုးမိုက်သောသူများသည် ခွဲထုတ်ခြင်းခံကြရမည်၊ ထို့နောက် လူ့လောက၌ မိမိတို့၏ နောက်လိုက်များအား မိုက်မဲမှုများတွင် ခေါင်ဆောင်လာခဲ့ကြသော အကြီးအကဲ၊ နာယက၊ ဥက္ကဋ္ဌ၊ ရှေ့ဆောင်ရှေ့ရပ်တို့သည် နောင်တမလွန်ဘဝ၌ ဂျဟန္နမ်ငရဲသို့ လားရာတွင်လည်း၊ ရှေ့ဆုံးမှပင် လားကြရပေမည်။

(၂) မုအ်မင်န်၊ ကာဖိရ်၊ သူတော်စင်၊ သူယုတ်မာ၊ အပြစ်မဲ့သူ၊ အပြစ်ရှိသူ အားလုံးတို့သည် ဂျဟန္နမ်ငရဲပေါ်မှ မုချဧကန် ဖြတ်ကျော် သွားရမည်သာ ဖြစ်သည်။ အဘယ်ကြောင့်ဆိုသော် ဂျန္နတ်သို့ သွားရာလမ်းသည် ဂျဟန္နမ်အပေါ်မှပင် ဖြတ်ကျော် ဖောက်လုပ်ထားသည်။ ဤသည်ကိုပင် အများက "ပုလ်ဆွိရာတ္တ်" တံတားဟု ခေါ်ဝေါ်သမုတ်ကြပေသည်။ ➤➤

ثُمَّ نُنَجِّى الَّذِيْنَ اتَّقَوْا وَّنَذَرُ الظّٰلِمِيْنَ فِيْهَا جِثِيًّا ﴿٧٢﴾

၇၂။ ထို့နောက် ငါအရှင်မြတ်သည် (မိမိအား ကြောက်ရွံ့ရှိသေသောအားဖြင့် ပြစ်မှုဒုစရိုက်များမှ) ရှောင်ကြဉ်ကြကုန်သောသူတို့အား လွတ်မြောက်စေတော်မူမည်။ သို့ရာတွင် မတော်မတရား ကျူးလွန်သော သူတို့အား ငါအရှင်မြတ်သည် ယင်းဂျဟန္နမ်ငရဲဘုံ၌ပင် ပုဆစ်ဒူးတုပ်လျက် စွန့်ပစ်ထားတော်မူအံ့သတည်း။

وَاِذَا تُتْلٰى عَلَيْهِمْ اٰيٰتُنَا بَيِّنٰتٍ قَالَ الَّذِيْنَ كَفَرُوْا لِلَّذِيْنَ اٰمَنُوْٓا ۙ اَىُّ الْفَرِيْقَيْنِ خَيْرٌ مَّقَامًا وَّاَحْسَنُ نَدِيًّا ﴿٧٣﴾

၇၃။ စင်စစ် ၎င်းတို့ရှေ့ဝယ် ငါအရှင်မြတ်၏ ထင်ရှားစွာသောအာယတ်တော်များကို ဖတ်ကြားသောအခါ ကာဖိရ် သွေဖည်ငြင်းပယ်သောသူတို့က မုအ်မင်န် သက်ဝင်ယုံကြည်သောသူတို့အား "(ကျွန်ုပ်တို့နှင့် အသင်တို့) အုပ်စုနှစ်စုအနက် မည်သည့်အုပ်စုသည် အခြေအနေအားဖြင့် ပိုကောင်း၍ (မည်သည့်အုပ်စု သည်) အပေါင်းအဖော်အားဖြင့် ပို၍ကောင်းပေသနည်း" ဟု ပြောဆို(မေးမြန်း)ကြကုန်၏။

➤➤ ထိုသည့် တံတားကို လူတိုင်းလူတိုင်း ဖြတ်သန်းသွားကြရမည် ဖြစ်သည်။ သို့ဖြတ်သန်းသွားရာတွင် မွတ္တကီ သူတော်စင်များသည် မိမိတို့ ဆည်းပူးခဲ့ကြသော ကုသိုလ်ကောင်းမှုများနှင့်အမျှ အေးချမ်းစွာ ဖြတ်ကျော်သွားနိုင်ကြပေမည်။ အပြစ်ရှိသောသူများမှာမူ ခြေချော်၍ ဂျဟန္နမ်အတွင်းသို့ ကျသွားကြပေမည်။ ထို့နောက် ငရဲဒဏ်ခံစား၍ အတန်ကြာသောအခါ မိမိတို့ဆည်းပူးခဲ့ကြသော ကောင်းမှုနှင့်အမျှ နဗီတမန်တော်များ၊ သူတော်စင်များ၊ ကောင်းကင်တမန်များ၏ ရှဖာအတ် အသနားခံပေးမှုဖြင့် နောက်ဆုံး မဟာကရုဏာတော်ရှင် ဖြစ်တော်မူသော အလ္လာဟ်အရှင်မြတ်၏ သနားကြင်နာမှုဖြင့် ထိုအရှင်မြတ်အား အမှန်တကယ် အီမာန် ယုံကြည်ခဲ့ကြသော၊ ပြစ်မှုကျူးလွန်မိခဲ့ကြသော အပြစ်ရှိသော မုအ်မင်န်များသည်လည်း အသီးသီး အဆင့်ဆင့် ဂျဟန္နမ် ငရဲမီးဘေးမှ လွတ်မြောက်သွားကြရပေမည်။

ထိုအရှင်မြတ်အား သွေဖည်ငြင်းဆန် မနာခံခဲ့သော ကာဖိရ် သူယုတ်မာများသာလျှင် ဂျဟန္နမ်တွင် အမြဲထာဝစဉ် ကျန်ရှိနေခဲ့ကြရပေမည်။

အချို့ဟဒီဆ် ဩဝါဒတော်များကို ထောက်ရှုခြင်းအားဖြင့် လူတိုင်းလူတိုင်းသည် ဂျဟန္နမ်အတွင်းသို့ ဝင်ရောက်ကြရမည်ဖြစ်ကြောင်း၊ သို့ရာတွင် ငရဲမီးသည် မုအ်မင်န်သူတော်စင်များအဖို့မှာ အေးမြလျက်ရှိမည် ဖြစ်ကြောင်း၊ ဂျဟန္နမ်ငရဲမှ အလွယ်တကူ ထွက်သွားကြရမည်ဖြစ်ကြောင်း သိရှိရပေသည်။

ယင်းကဲ့သို့ လူတိုင်းလူတိုင်း ဂျဟန္နမ်အတွင်းသို့ ဝင်ရောက်ဖြတ်သန်း သွားကြရသည်နှင့် စပ်လျဉ်း၍ အကျိုးအာနိသင် အမြောက်အမြားရှိသည့် အကြောင်းများကို အှမာမ် ဖခ်ရုဒ်ဒီန်ရာဇီသည် မိမိ၏ တဖ်စီရ်ကျမ်းကြီးတွင် အကျယ်တဝင့် ဖွင့်ဆိုရေးသားထားပေသည်။

وَكَمْ اَهْلَكْنَا قَبْلَهُمْ مِّنْ قَرْنٍ هُمْ اَحْسَنُ اَثَاثًا وَّرِءْيًا ﴿٧٤﴾

၇၄။ အမှန်စင်စစ်သော်ကား ငါအရှင်မြတ်သည် ထိုသူတို့အလျှင် များစွာသောအုပ်စုများကို ဖျက်ဆီးတော်မူခဲ့ပေပြီ။ ယင်း(ဖျက်ဆီးခြင်း ခံခဲ့ကြရသော)အုပ်စုများကား ဥစ္စာပစ္စည်းအားဖြင့်လည်းကောင်း၊ အမြင်အားဖြင့်လည်းကောင်း၊ (ထိုသူတို့ထက်) သာလွန်ကောင်းမြတ်သူများပင် ဖြစ်ခဲ့ကြကုန်၏။ [၁]

---

(၁) ကာဖိရ်များရှေ့မှောက်တွင် ၎င်းတို့ခံစားကြရမည့် ဆိုးရွားလှသည့် နောက်ဆုံးအခြေအနေများနှင့်စပ်လျဥ်း၍ ထင်ရှားပြတ်သားသော ကုရ်အာန်ကျမ်းလာ အာယတ်တော်များကို ရွတ်ဖတ်ပြသောအခါ၊ ယင်းကာဖိရ်များက ပြက်ချော်ပြောင်လှောင်သည့် သဘောဖြင့် ဆင်းရဲနွမ်းပါးသော မွတ်စ်လင်မ်တို့အား "အသင်တို့ ယုံကြည်ယူဆချက်အရ ငါတို့သည် နောင်တမလွန်ဘဝတွင် အလွန်ဆိုးရွားသော အခြေသို့ ဆိုက်ရောက်ကြရမည်ဖြစ်သည်။ ဤသို့ကား မဖြစ်နိုင်၊ အဘယ်ကြောင့်ဆိုသော် ဤပစ္စက္ခတွင် ငါတို့၏အခြေအနေနှင့် အသင်တို့၏အခြေအနေမှာ အလွန်ကွာခြားလျက်ရှိသည်။

ယနေ့ ငါတို့နေထိုင်လျက်ရှိသော တိုက်တာ၊ ဂေဟာများ၊ ငါတို့ စီးနင်းသွားလာလျက်ရှိသော အစီးအနင်းများ၊ ငါတို့၏ အိမ်ထောင်မှု ပရိဘောဂများ၊ ငါတို့၏ အဆောင်အယောင်များသည် အသင်တို့ထက် အများကြီးသာပေသည်။ ထို့ပြင်တစ်ဝ ငါတို့၏ အပေါင်းအဖော်များ၊ အသင်းအဖွဲ့များနှင့် ငါတို့၏ လူ့အဖွဲ့အစည်းသည်လည်း အသင်တို့ထက် အများကြီးသာပေသည်။ ငါတို့သည် အသင်တို့၏ ယုံကြည်ယူဆချက်အရ လမ်းမှားသူများ ဖြစ်ကြသော်လည်း၊ လက်တွေ့မှာ အသင်တို့ လမ်းမှန်သူများထက် အများကြီးသာကြသည်၊ ငါတို့၏ အခြေအနေလည်း ကောင်းသည်၊ ငါတို့၏ အဖွဲ့လည်းတောင့်သည်။ ယနေ့ ငါတို့အား စိုးရိမ်ကြောက်ရွံ့ပြီး 'ဆွဖာ' တောင်ကြားတွင် ပုန်းအောင်းနေကြရသော မွတ်စ်လင်မ်များသည် နက်ဖန် (နောင်တမလွန်ဘဝ)တွင် ငါတို့အား ကျော်လွှားပြီး ဂျန္နတ်သို့ တောက်လျှောက်ရောက်သွားကြမည်၊ ငါတို့သည် ငရဲတွင် ထာဝစဉ်ခံစားနေကြရမည် ဟုဆိုခြင်းမှာ အသို့လျှင်ဖြစ်နိုင်အံ့နည်း"ဟု ဆိုခဲ့ကြလေသည်။

ယင်းသို့သော ကာဖိရ်များအား ဖြေကြားထားတော်မူသည်မှာ-ထိုသို့သော ကာဖိရ်များကို မဆိုထားနှင့်၊ လောကီစည်းစိမ်တွင် ၎င်းတို့ထက်ပင် အဆပေါင်းများစွာသာသော ကာဖိရ်များသည် ၎င်းတို့ အလျှင်ရှိခဲ့ဘူးကြသည်။ ယင်း ကာဖိရ်များသည် လောကီစည်းစိမ်များကို အကြောင်းပြုပြီး မောက်မာပလွှားကာ တမန်တော်များအား သွေဖည်ငြင်းဆန်ခဲ့ကြလေသည်၊ နောက်ဆုံးတွင် အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့အား ကွပ်မျက်ဖျက်ဆီးပစ်တော်မူခဲ့လေသည်။

ယနေ့ ကမ္ဘာ့ဓာတ်ခံပေါ်တွင် ၎င်းတို့၏အမည်နာမနှင့် အမှတ်သညာမျှကိုပင် မတွေ့ရှိရတော့ပေ။ သို့ဖြစ်ပေရာ လူသားများသည် ဤသခ်ါရပစ္စက္ခ၏ မတည်မြဲသော ဥစ္စာဂုဏ်၊ သားသမီးဂုဏ်၊ ရာထူးဂုဏ်၊ အပေါင်းအသင်းဂုဏ်၊ အဖွဲ့အစည်းဂုဏ် စသည့် လောကီအရိုန်အဝါများကို ကြည့်ပြီး ဘဝင်မမြင့်ရာ၊ အောက်ခြေမလွတ်ရာ၊ မမောက်ရာ၊ မောက်က မှောက်မည်သာဖြစ်သည်။ ဤသည် မျက်မြင်ကိုယ်တွေ့ပင်။ များသောအားဖြင့် မောက်မာပလွှားသောဓနရှင်၊ ရာထူးရှင်များသည် ဥစ္စာဂုဏ်၊ ရာထူးဂုဏ်မောက်ပြီး အမှန်တရားကို သွေဖည်၍ နောက်ဆုံးတွင် ပျက်စီးခြင်းကြီးမလှ ပျက်စီး၍ အသေဆိုးနှင့် သေကြေပျက်စီး သွားလေ့ရှိကြပေသည်။ ➤➤

قُلْ مَنْ كَانَ فِي الضَّلَٰلَةِ فَلْيَمْدُدْ لَهُ الرَّحْمَٰنُ مَدًّا ۚ حَتَّىٰٓ إِذَا رَأَوْا مَا يُوعَدُونَ إِمَّا الْعَذَابَ وَإِمَّا السَّاعَةَ فَسَيَعْلَمُونَ مَنْ هُوَ شَرٌّ مَّكَانًا وَأَضْعَفُ جُندًا ﴿٧٥﴾

၇၅။ (အို-နဗီတမန်တော်) အသင်သည် (၎င်းတို့အား ဤသို့)ပြောကြားပါလေ။ (အချင်းတို့၊) မည်သူမဆို လမ်းမှား၌ရှိခဲ့မူ "ရဟ်မာန်" အနန္တကရုဏာတော်ရှင်သည် ထိုသူအား အခွင့်ရှည်စွာ ရွှေ့ဆိုင်းထားတော်မူပေမည်။

နောက်ဆုံးတွင် ထိုသူတို့သည် မိမိတို့ ချိန်းချက်ထားခြင်းခံကြရသော (လောကီ) ပြစ်ဒဏ်ကိုလည်းကောင်း၊ ကိယာမတ်ကိုလည်းကောင်း၊ တွေ့မြင်ကြသောအခါ၊ မည်သူသည် အခြေအနေအားဖြင့် ပို၍ဆိုးရွားသူဖြစ်သည်ကိုလည်းကောင်း၊ မည်သူသည် အုပ်စုအားဖြင့် အားနည်းသူဖြစ်သည်ကိုလည်းကောင်း၊ ထိုသူတို့သည် မုချ သိရှိကြအံ့သတည်း။ [၁]

➢➢ အမှန်မှာ-ဥစ္စာ၊ ပစ္စည်း၊ သားသမီး၊ အဖွဲ့အစည်း စသည့်လောကီသာယာမှုများသည် အရိပ်ပမာ သခ်ါရမျှသာဖြစ်သည်။ ဤသည်တို့သည် အလ္လာဟ်အရှင်မြတ် နှစ်သက်တော်မူခြင်း၊ နောင်တမလွန်ဘဝ၏ သာယာခြင်းများ၏ သက်သေလက္ခဏာ မဟုတ်ပေ။ လူသားတို့သည် ဤသည်တို့ကို ကောင်းစွာ သိအပ်မြင်အပ်ပေသည်။

(၁) ဤပစ္စက္ခဘဝသည် စမ်းသပ်ရာ ဌာနဖြစ်သည်။ အလ္လာဟ်အရှင်မြတ်သည် ဤပစ္စက္ခဘဝတွင် အားလုံးတို့အား တစ်နည်းအားဖြင့် အလိုရှိရာပြုခွင့်၊ လွတ်လပ်ခွင့် ပြုထားတော်မူသည်။ လူသားတို့သည် မိမိတို့ အာသာဆန္ဒအလျောက် မိမိတို့ ကြိုက်နှစ်သက်ရာ လမ်းစဉ်တစ်ခုခုကို လွတ်လပ်စွာရွေးချယ်၍ ကျင့်သုံးနိုင်ရန်အတွက် အချိန်လည်း ပေးထားတော်မူသည်။ ထို့အတွက် မှားသောလမ်းစဉ်ကို ရွေးချယ် ကျင့်သုံးလျက်ရှိသူတစ်ဦးသည် မိမိရရှိထားသည့် ချောင်လည်မှု၊ အသက်ရှည်မှု စသည့် လောကီစည်းစိမ်များကို မိမိအဖို့ ကောင်းသည်ဟူ၍ မယူဆရာ။

ဤပစ္စက္ခဘဝတွင် အကောင်းနှင့်အဆိုး ရောပြွမ်းလျက် ရှိနေကြသော်လည်း နောင်တမလွန်ဘဝတွင်မူကား လုံးဝကွဲပြားသွားကြပေမည်။ ဤပစ္စက္ခဘဝ၏ သက်တမ်းနှင့်တကွ အကောင်းအဆိုးများသည် ယာယီမျှသာဖြစ်သည်၊ နောင်တမလွန်ဘဝ၏ သက်တမ်းနှင့် ကောင်းကျိုးဆိုးကျိုးတို့ကား အမြဲထာဝစဉ်ဖြစ်ပေမည်။ သို့ဖြစ်ပေရာ နောင်တမလွန်ဘဝသာလျှင် အဓိကဖြစ်ပေသည်။

လမ်းမှားလိုက်၍ လောကီစည်းစိမ်များတွင် နစ်မွန်းနေသူများသည် မဝေးလှသော အနာဂတ်တွင် လောကီဆိုင်ရာ ပြစ်ဒဏ်ကိုသော်လည်းကောင်း၊ ကိယာမတ်နေ့ကိုသော်လည်းကောင်း၊ မျက်ဝါးထင်ထင် မြင်တွေ့ကြရမည်၊ ထိုအခါ ၎င်းတို့သည် ၎င်းတို့ အထင်ကြီးခဲ့သော ၎င်းတို့၏ တိုက်တာ၊ ဂေဟာများနှင့် ၎င်းတို့၏ အပေါင်းအဖော်များသည် မည်သို့မျှ အသုံးမဝင်ကြောင်း၊ အချည်းနှီးသာ ဖြစ်ကြောင်းကို သိရှိသွားကြပေမည်။ သို့ရာတွင် ထိုချိန်အခါကျမှ နောင်တရခြင်းသည် အကျိုးရှိတော့မည်မဟုတ်ပေ။

وَيَزِيدُ اللّٰهُ الَّذِينَ اهْتَدَوْا هُدًى ۗ وَالْبٰقِيٰتُ الصّٰلِحٰتُ خَيْرٌ عِنْدَ رَبِّكَ ثَوَابًا وَّخَيْرٌ مَّرَدًّا ﴿٧٦﴾

၇၆။ စင်စစ် အလ္လာဟ်အရှင်မြတ်သည် တရားလမ်းမှန်ကို လိုက်စားသူတို့အား တရားလမ်းမှန်၌ တိုးတက်စေတော်မူ၏။ အမှန်သော်ကား အမြဲတစေ တည်ရှိနေမည်ဖြစ်သော ကောင်းမြတ်သော အကျင့်သီလများသည် အသင့်အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်အထံတော်တွင် ကုသိုလ်အကျိုးအားဖြင့်လည်း အကောင်းဆုံးပင် ဖြစ်ပေသည်။ နောက်ဆုံး အကျိုးဆက်အားဖြင့်လည်း အကောင်းဆုံးပင် ဖြစ်ချေသတည်း။ [၁]

أَفَرَءَيْتَ الَّذِي كَفَرَ بِاٰيٰتِنَا وَقَالَ لَأُوتَيَنَّ مَالًا وَّوَلَدًا ﴿٧٧﴾

၇၇။ (အို-နဗီတမန်တော်) အသင်သည် အကြင်သူအား မြင်ခဲ့လေသလော။ ထိုသူသည် ငါအရှင်မြတ်၏ သက်သေလက္ခဏာတော်များကိုလည်း ငြင်းပယ်ခဲ့သေး၏။ ၎င်းပြင် အမှန်မုချ ကျွန်ုပ်သည် (နောင်တမလွန်ဘဝတွင်လည်း) ဥစ္စာပစ္စည်းကိုလည်းကောင်း၊ သားသမီးကိုလည်းကောင်း၊ ချီးမြှင့်ခြင်းကို ခံရဦးမည်ဟူ၍လည်း ပြောဆိုခဲ့ပေသည်။ [၂]

---

(၁) မှားသောလမ်းစဉ်ကိုလိုက်၍ လောကီစည်းစိမ်များတွင် နစ်မွန်းနေသူများအား အလ္လာဟ်အရှင်မြတ်သည် ကြီးရှည်ရှည်နှင့် လွှတ်ထားတော်မူသကဲ့သို့ မှန်သောလမ်းစဉ်ကို လိုက်သော ပုဂ္ဂိုလ်များအား ၎င်းတို့၏ ယုံကြည်မှုသဒ္ဓါတရား၊ အတွေးအခေါ် အမြော်အမြင်များကို တိုးပွားထက်မြက် စေတော်မူသည်ဖြစ်ရာ (ကြည့်-ကုရ်အာန် ၈း၂-၄၊ ၉း၁၂၄-၁၂၅)၊ ယင်း ပုဂ္ဂိုလ်မြတ်များသည် အလ္လာဟ်အရှင်မြတ်၏ နှစ်သက်တော်မူခြင်းကို ရရှိနိုင်ရန်အလို့ငှာ ထိုအရှင်မြတ်၏ လမ်းတော်တွင် ကိုယ်စွမ်းရှိသမျှ၊ ဉာဏ်စွမ်းရှိသမျှ ကြိုးပမ်းအားထုတ်ကြပေသည်။ သို့ကြိုးပမ်း အားထုတ်ကြသည့်အလျောက် "အင်န်ရှာအလ္လာဟ်" ၎င်းတို့သည် မကြာမီအတွင်း နောင်တမလွန်ဘဝ၏ အမတသုခများကို အမြဲထာဝစဉ် ခံစားကြရပေမည်။ နောင်တမလွန်ဘဝကား ထာဝရတည်း၊ နောင်တမလွန်ဘဝ၏ သုခကား အမတတည်း။

(၂) အစ္စလာမ်ကို ဖြောင့်ဖြောင့်ကြီး သွေဖည်ဆန့်ကျင်နေသူ တစ်ဦးက- နောင်တမလွန်၏ အမတသုခကို မျှော်မှန်းခြင်းမှာ မိုက်မဲခြင်းသာဖြစ်သည်။ အီမာန်ယုံကြည်မှုနှင့် ကောင်းမြတ်သော အကျင့်သီလတို့ဖြင့်သာ နောင်တမလွန်ဘဝတွင် အမတသုခများကို ခံစားရမည်ဖြစ်သည်။ ဤပစ္စက္ခတွင် တစ်သက်တာလုံး အလ္လာဟ်အရှင်မြတ်အား သွေဖည်ငြင်းဆန်၍ မိုက်ချင်တိုင်းမိုက်၊ ဆိုးချင်တိုင်းဆိုး နေသူတစ်ဦးအဖို့မှာ နောင်တမလွန်ဘဝတွင် ငရဲမီးဘေးမှအပ အခြားအဘယ်အရာ ရှိနိုင်အံ့နည်း။

၇၈။ အသို့ပါနည်း ထိုသူတို့သည် အကွယ်၌ရှိသည်ကို သိရှိခဲ့လေသလော။ သို့တည်းမဟုတ် ထိုသူသည် "ရဟ်မာန်" အနန္တကရုဏာတော်ရှင်၏ အထံတော်၌ ပဋိညာဉ်တစ်ခုခုကို ဖွဲ့ခဲ့လေသလော။

أَطَّلَعَ الْغَيْبَ أَمِ اتَّخَذَ عِنْدَ الرَّحْمَٰنِ عَهْدًا ﴿٧٨﴾

၇၉။ အလျှင်းမဟုတ်ပေ။ယခုပင်ငါအရှင်မြတ်သည် ထိုသူပြောဆိုသော စကားကို ရေးသားတော်မူမည်။ ၎င်းပြင် ငါအရှင်မြတ်သည် ထိုသူ၌ ပြစ်ဒဏ်ကိုလည်း တိုးတက်ခံစားစေတော်မူမည်။ ၁

كَلَّا سَنَكْتُبُ مَا يَقُولُ وَنَمُدُّ لَهُ مِنَ الْعَذَابِ مَدًّا ﴿٧٩﴾

၈၀။ ၎င်းပြင် ထိုသူပြောဆိုသည့်အရာများကို ငါအရှင်မြတ်သည်သာလျှင် ပိုင်ဆိုင်တော်မူပေမည်။ ထို့နောက် ၎င်းသည် ငါအရှင်မြတ်အထံတော်သို့ တစ်ကိုယ်တည်းပင် ရောက်ရှိလာအံ့သတည်း။

وَنَرِثُهُ مَا يَقُولُ وَيَأْتِينَا فَرْدًا ﴿٨٠﴾

၈၁။ ထို့ပြင် ၎င်းတို့သည် မိမိတို့အဖို့ အကူအညီပေးသူများဖြစ်ကြအံ့သောငှာအလ္လာဟ်အရှင်မြတ်အပြင် အခြားကိုးကွယ်ရာများလည်း ပြုလုပ်ထားခဲ့ကြကုန်၏။

وَاتَّخَذُوا مِنْ دُونِ اللَّهِ آلِهَةً لِيَكُونُوا لَهُمْ عِزًّا ﴿٨١﴾

---

(၁) ဆိုလိုသည်ကား ယင်း ကာဖိရ် ပြောဆိုသော စကားများကို အလ္လာဟ်အရှင်မြတ် ရေးမှတ်ထားတော်မူသည်။ အချိန်ကျသောအခါ ထိုက်သည့်အားလျော်စွာ ပြစ်ဒဏ်ပေးတော် မူမည်ဖြစ်သည်။ ယင်းကာဖိရ်အား ပြစ်ဒဏ်ကို ရှည်လျားစွာ ခံစားစေတော်မူမည်ဖြစ်သည်။

ယင်းကာဖိရ် ပြောဆိုနေသော ဥစ္စာပစ္စည်း သားသမီးများကို ၎င်းသည် အမြင်အားဖြင့် ယာယီပိုင်ဆိုင်နေသည်ဟု ထင်ရသော်လည်း၊ ယင်းကာဖိရ် သေဆုံးသွားပြီးသည့်အခါ ယင်းကာဖိရ်သည် မိမိမသေမီအတွင်း ငါ့သားသမီး၊ ငါ့ပစ္စည်းဟု တတွတ်တွတ် ပြောဆိုနေခဲ့သော အရာများကို မည်သို့မျှ ပိုင်ဆိုင်တော့မည်မဟုတ်ပေ။

အမှန်မှာ အရာခပ်သိမ်းကုန်တို့ကို အလ္လာဟ်အရှင်မြတ်သာလျှင် ပိုင်ဆိုင်တော်မူပေသည်။ ယင်းကာဖိရ်သည် ကိယာမတ်နေ့တွင် အလ္လာဟ်အရှင်မြတ် ရှေ့တော်မှောက်သို့ သားသမီးမပါ၊ ဥစ္စာပစ္စည်းမပါ၊ အခြွေအရံမပါ၊ ကိုးကွယ်ရာများမပါ၊ တစ်ဦးတည်းပင် ရောက်ရှိလာပေမည်။ ခဲလေသမျှ သဲရေကျ ဖြစ်ရမည်။ ကြည့်-ကုရ်အာန် (၆:၉၅။ ၈၀:၃၄-၄၂)။

၈၂။ (ယင်းကိုးကွယ်ရာများသည်၎င်းတို့အား အကူ
အညီပေးသူများ) အလျှင်း (ဖြစ်ကြမည်)မဟုတ်ပေ။
(စင်စစ်) မကြာမီပင် (ယင်းကိုးကွယ်ရာများသည်)
၎င်းတို့အား ကိုးကွယ်မှုကို ငြင်းပယ်၍ ၎င်းတို့၏
ရန်သူရန်ဘက်များပင် ဖြစ်သွားကြပေမည်။

كَلَّا ۚ سَيَكْفُرُونَ بِعِبَادَتِهِمْ وَيَكُونُونَ عَلَيْهِمْ ضِدًّا ٨٢

၈၃။ (အို–နဗီတမန်တော်) အသင်သည် မသိမမြင်
ခဲ့ပါသလော။ ဧကန်မလွဲ ငါအရှင်မြတ်သည် ကာဖိရ်
သွေဖည်ငြင်းပယ်သောသူတို့အပေါ်၌ ရှိုင်တွာန် မိစ္ဆာ
ကောင်များကို စေလွှတ်ထားတော်မူခဲ့လေသည်။ ထို
ရှိုင်တွာန်မိစ္ဆာကောင်များသည် ယင်းသွေဖည် ငြင်းပယ်
သောသူတို့အား လွန်စွာ လှုံ့ဆော်လျက်ရှိကြကုန်၏။

أَلَمْ تَرَ أَنَّا أَرْسَلْنَا الشَّيَاطِينَ عَلَى الْكَافِرِينَ تَؤُزُّهُمْ أَزًّا ٨٣

၈၄။ သို့ဖြစ်ပေရာ အသင်သည် ယင်း(သွေဖည်
ငြင်းပယ်သောသူ)တို့နှင့် ပတ်သက်၍ အလျင်မလို
လေနှင့်။ ငါအရှင်မြတ် ကိုယ်တော်တိုင်ပင် ၎င်းတို့(၏
အပြုအမူများ) ကို ရေတွက်လျက် ရှိနေတော်မူပေ
သတည်း။

فَلَا تَعْجَلْ عَلَيْهِمْ ۖ إِنَّمَا نَعُدُّ لَهُمْ عَدًّا ٨٤

၈၅။ (၎င်းတို့အပေါ်၌ ပြစ်ဒဏ်သည်) အကြင်နေ့
တွင် (ကျရောက်မည်ဖြစ်၏။) ထိုနေ့တွင် ငါအရှင်မြတ်
သည် မွတ္တကီသူတော်စင်တို့အား "ရဟ်မာန်" အနန္တ
ကရုဏာတော်ရှင် အထံတော်သို့ ဧည့်သည်တော်များ
အဖြစ် စုရုံးစေတော်မူမည်။

يَوْمَ نَحْشُرُ الْمُتَّقِينَ إِلَى الرَّحْمَٰنِ وَفْدًا ٨٥

၈၆။ ထိုမှတစ်ပါး ငါအရှင်မြတ်သည် ပြစ်မှုကျူးလွန်
သူတို့အား (ထိုနေ့တွင်) ဂျဟန္နမ်ငရဲဘုံသို့ ရေငတ်
မွတ်သိပ်စေလျက် မောင်းနှင်တော်မူပေမည်။

وَنَسُوقُ الْمُجْرِمِينَ إِلَىٰ جَهَنَّمَ وِرْدًا ٨٦

၈၇။ (ထိုနေ့တွင်) "ရဟ်မာန်" အနန္တကရုဏာတော်
ရှင်၏အထံတော်မှ ကတိတစ်စုံတစ်ရာ ရရှိပြီးဖြစ်

لَا يَمْلِكُونَ الشَّفَاعَةَ إِلَّا مَنِ

اتَّخَذَ عِندَ الرَّحْمَٰنِ عَهْدًا ﴿٨٧﴾

သောသူမှတစ်ပါး အခြားသူတို့မှာ ကြားဝင်အသနား ခံပိုင်ခွင့် ရှိကြမည် မဟုတ်ပေတကား။ ၁

وَقَالُوا اتَّخَذَ الرَّحْمَٰنُ وَلَدًا ﴿٨٨﴾

**၈၈။** ထို့ပြင် ၎င်းတို့က "ရဟ်မာန်" အနန္တကရုဏာ တော်ရှင်သည် သားသမီး ပြုလုပ်တော်မူခဲ့သည် ဟု(စွပ်စွဲ) ပြောဆိုခဲ့ကြကုန်၏။ ၂

---

(၁) ကိယာမတ်နေ့တွင် အလ္လာဟ်အရှင်မြတ် ခွင့်ပြုတော်မူသော နဗီများ၊ ကောင်းကင်တမန်များ၊ သူတော်စင်များ စသည့်ပုဂ္ဂိုလ်မွန် ပုဂ္ဂိုလ်မြတ်တို့သာလျှင် အဆင့်ဆင့် ရှဖာအတ်ပြုခွင့် ရရှိကြပေမည်။ ထိုအရှင်မြတ်၏ ခွင့်ပြုချက်မပါရှိဘဲ မည်သူတစ်ဦးတစ်ယောက်မျှ ရှဖာအတ်ပြုနိုင်မည် မဟုတ်ပေ။ ရှဖာအတ်ပြုခွင့်ရရှိသော ပုဂ္ဂိုလ်များသည်ပင်လျှင် လူတိုင်းအတွက် ရှဖာအတ်ပြုနိုင်ကြမည် မဟုတ်၊ အလ္လာဟ်အရှင်မြတ် ခွင့်ပြုတော်မူသော သူများအတွက်သာ ရှဖာအတ်ပြုနိုင်ကြပေမည်။ ကာဖိရ်များအဖို့ ရှဖာအတ် အလျှင်းမရှိပေ။

(၂) များစွာသော သူများသည် အလ္လာဟ်အရှင်မြတ်မှတစ်ပါး အခြားအရာများကိုလည်း ကိုးကွယ်ရာများဟူ၍ မှတ်ယူကိုးကွယ်ကြသည်။ အချို့က အလ္လာဟ်အရှင်မြတ်၌ သားတော်နှင့် သမီးတော်များရှိသည်ဟု ဆိုကြသည်။

ဥပမာ–နတ်ဆွဲရာနီများက တမန်တော်အီစာအား အလ္လာဟ်အရှင်မြတ်၏ သားတော်ဟူ၍ ဆိုကြသည်။ ယဟူဒီများက တမန်တော် အုဇိုင်ရ်အား အလ္လာဟ်အရှင်မြတ်၏ သားတော်ဟူ၍ဆိုကြသည်။ အရဗ်မုရှ်ရစ်က်တို့က ကောင်းကင်တမန်များအား အလ္လာဟ်အရှင်မြတ်၏ သမီးတော်များဟူ၍ ဆိုကြသည်။

ဤသို့ကား အလျှင်းမဆိုအပ်ပေ။ ပြောဆိုရန်ဝေးစွ၊ တွေးပင်မတွေးအပ်ပေ။ အလ္လာဟ်အရှင်မြတ်သည် တစ်ဆူတည်း၊ တစ်ပါးတည်း ဖြစ်တော်မူသည်။ ထိုအရှင်မြတ်၌ ဂုဏ်ရည်တူသူဟူ၍ တစ်ဦးတစ်ယောက်မျှမရှိ၊ ဇနီးသားသမီး သံယောဇဉ်ဟူ၍ အလျှင်းမရှိ၊ သားသမီး၊ ဇနီးစသည့် သံယောဇဉ်များရှိနေပါက ထိုအရှင်မြတ်သည် မိမိ၏သံယောဇဉ်များကို ထောက်ထားရတော့မည်၊ ငဲ့ညှာရတော့မည်၊ တန်ခိုးတော်များ ခွဲဝေပေးရတော့မည်။ ထိုအရှင်မြတ်၌ "ဂုဏ်ရည်တူမရှိ" ဟူသော ဂုဏ်တော်သည် ပျက်ပြားရတော့မည်။ ဤသို့ကား အလျှင်းမဖြစ်နိုင်။ အလျှင်းမပြောအပ်၊ မဆိုအပ်၊ မတွေးအပ်။

ရှိရှိသမျှသော အရာခပ်သိမ်းကုန်တို့သည် အလ္လာဟ်အရှင်မြတ် ပိုင်ဆိုင်တော်မူသော အရာများသာ ဖြစ်ကြချေသည်။ ထိုအရှင်မြတ်၏ ကျွန်၊ အစေခံများသာ ဖြစ်ကြပေသည်၊ အရာခပ်သိမ်းကုန်တို့သည် ထိုအရှင်မြတ်အားသာလျှင် မှီခိုအားထားနေကြရပေသည်၊ ထိုအရှင်မြတ်သည် မည်သူ့ကိုမျှ အားထားမှီခိုနေရတော် မူသည်မဟုတ်။ အရာအားလုံးတို့သည် အစေခံကျွန်အဖြစ်နှင့်ပင် ထိုအရှင်မြတ်၏ ရှေ့တော်သို့ ရောက်ရှိကြရပေမည်၊ သို့ဖြစ်ရာ အစေခံကျွန်တစ်ဦးသည် ထိုအရှင်မြတ်၏ သား၊ သမီး၊ ဇနီး အသို့လျှင် ဖြစ်နိုင်အံ့နည်း။ အလျှင်းမဖြစ်နိုင်ပေ။

အလ္လာဟ်အရှင်မြတ်၌ သား၊ သမီး၊ ရှိသည်ဟု စွပ်စွဲပြောဆိုခြင်းမှာ အလျှင်း မပြောဆိုအပ်သော စကားကို ထုတ်ဖော် ပြောဆိုခြင်းသာဖြစ်သည်၊ ယင်းသို့ပြောဆိုခြင်းမှာ အပြစ် အလွန်ကြီးလေးလှသည်။ ဤသည်ကိုပင် ဤအာယတ်တော်တွင် မိန့်ဆိုထားတော်မူသည်။

لَقَدْ جِئْتُمْ شَيْـًٔا اِدًّا ﴿٨٩﴾

၈၉။ ကေန်မလွဲ အသင်တို့သည် အလွန် ဆိုးရွားသောအရာကို ကျူးလွန် (ပြောဆို)ခဲ့ကြကုန်သည်။

تَكَادُ السَّمٰوٰتُ يَتَفَطَّرْنَ مِنْهُ وَتَنْشَقُّ الْاَرْضُ وَتَخِرُّ الْجِبَالُ هَدًّا ﴿٩٠﴾

၉၀။ ယင်းပြောဆိုမှုကြောင့် မိုးကောင်းကင်များသည်ပြိုလုအံ့ဆဲဆဲ၊ ပထဝီမြေသည်အက်ကွဲအံ့ဆဲဆဲ၊ တောင်များသည် တုန်လှုပ်၍ ပြိုလဲ ကျအံ့ဆဲဆဲ၊ ဖြစ်ကုန်ကြပေသည်။

اَنْ دَعَوْا لِلرَّحْمٰنِ وَلَدًا ﴿٩١﴾

၉၁။ ၎င်းတို့သည် “ရဟ်မာန်” အနန္တကရုဏာတော်ရှင်၌ သားသမီး(ရှိသည်ဟု) ယိုးစွပ်ခဲ့ကြသောကြောင့်ပင်။

وَمَا يَنْۢبَغِيْ لِلرَّحْمٰنِ اَنْ يَّتَّخِذَ وَلَدًا ﴿٩٢﴾

၉၂။ စင်စစ်မှုကား သားသမီး တစ်စုံတစ်ယောက် ပြုလုပ်ခြင်းသည် “ရဟ်မာန်” အနန္တကရုဏာတော်ရှင်နှင့် လုံး၀ အပ်စပ်သည်မဟုတ်ပေ။

اِنْ كُلُّ مَنْ فِي السَّمٰوٰتِ وَالْاَرْضِ اِلَّآ اٰتِي الرَّحْمٰنِ عَبْدًا ﴿٩٣﴾

၉၃။ မိုးကောင်းကင်များ၌လည်းကောင်း၊ ပထဝီမြေ၌လည်းကောင်း၊ ရှိကုန်သောသူ ဟူဟူသမျှတို့သည် “ရဟ်မာန်” အနန္တကရုဏာတော်ရှင်၏ ရှေ့တော်မှောက်တွင် ကျွန်အဖြစ်နှင့် လာရောက်ရမည့်သူချည်းသာ ဖြစ်ကုန်သတည်း။

لَقَدْ اَحْصٰىهُمْ وَعَدَّهُمْ عَدًّا ﴿٩٤﴾

၉၄။ ကေန်မလွဲ ထိုအရှင်မြတ်သည် ၎င်းတို့အား ဝန်းခြံ၍ထားတော်မူသည့်ပြင် ၎င်းတို့အား ရေတွက်၍လည်း ထားတော်မူလေသည်။

وَكُلُّهُمْ اٰتِيْهِ يَوْمَ الْقِيٰمَةِ فَرْدًا ﴿٩٥﴾

၉၅။ စင်စစ် ၎င်းတို့အနက် အသီးသီးတို့သည် ထိုအရှင်မြတ်အထံတော်သို့ ကိယာမတ် ရှင်ပြန်ထမည့်နေ့တွင် တစ်ဦးချင်း လာရောက်ရမည့်သူများသာလျှင် ဖြစ်ကြကုန်သတည်း။

إِنَّ الَّذِينَ آمَنُوا وَعَمِلُوا الصَّالِحَاتِ سَيَجْعَلُ لَهُمُ الرَّحْمَٰنُ وُدًّا ﴿٩٦﴾

၉၆။ စေကန်စင်စစ် အကြင်သူတို့သည် သက်ဝင်ယုံကြည်ကြကုန်၏။ ၎င်းပြင် ထိုသူတို့သည် ကောင်းမြတ်သောအကျင့်သီလများကိုလည်း ကျင့်မှု ဆောက်တည်ကြကုန်၏။ "ရဟ်မာန်" အနန္တကရုဏာတော်ရှင်သည် မကြာမြင့်မီပင် ၎င်းတို့အဖို့ ချစ်ကြည်မြတ်နိုးမှုကို ပြုလုပ်၍ ပေးတော်မူပေမည်။ ၁

فَإِنَّمَا يَسَّرْنَاهُ بِلِسَانِكَ لِتُبَشِّرَ بِهِ الْمُتَّقِينَ وَتُنذِرَ بِهِ قَوْمًا لُّدًّا ﴿٩٧﴾

၉၇။ စင်စစ် ငါအရှင်မြတ်သည်ပင် ယင်း(ကုရ်အာန်ကျမ်းတော်မြတ်)ကို အသင်၏ ဘာသာစကားဖြင့် လွယ်ကူအောင် ပြုလုပ်တော်မူခဲ့ပေသည်။ သို့မှသာလျှင် အသင်သည် ယင်း (ကုရ်အာန်ကျမ်းတော်မြတ်)ဖြင့် မွတ္တကီ သူတော်စင်တို့အား သတင်းကောင်း ပြောကြားခြင်းကို လည်းကောင်း၊ စကားအငြင်းပွားအားကြီးသောအမျိုးသားတို့အား ယင်း(ကုရ်အာန်ကျမ်းတော်မြတ်)ဖြင့် သတိပေး နှိုးဆော်ခြင်းကိုလည်းကောင်း၊ ပြုနိုင်မည် ဖြစ်ပေသတည်း။ ၂

---

(၁) အီမာန် ယုံကြည်၍ ကောင်းမြတ်သော အကျင့်သီလဆောက်တည်ကြကုန်သော သူမွန်သူမြတ်တို့အား အလ္လာဟ်အရှင်မြတ်သည် မိမိ၏မေတ္တာစေတ်ကို ချီးမြှင့်တော်မူသည်၊ သို့တည်းမဟုတ် မိမိကိုယ်တော်တိုင်က ၎င်းတို့အား ကရုဏာသက်တော်မူသည်။ သို့တည်းမဟုတ် ၎င်းတို့နှင့်ပတ်သက်၍ လူအများတို့၏ စိတ်နှလုံးများတွင် မေတ္တာစေတ်ကို ထည့်သွင်းပေးတော်မူသည်။

သူတစ်ပါး၏ ရိုးသားစွာ ချစ်ကြည်မြတ်နိုးမှု ခံရခြင်း၏သုခနှင့် သူတစ်ပါး၏ မလိုမုန်းတီးမှု ခံရခြင်း၏ဒုက္ခကို ခံစားရဘူးသူတိုင်း သိနိုင်ပေသည်။ (ဤတွင် သူတစ်ပါးအား မိမိကိုယ်ကျိုးကို မျှော်ကိုး၍ ချစ်ကြည်မြတ်နိုးခြင်း၊ အပြစ်ရှိသူက ဖြောင့်မတ်မှန်ကန်သူတို့အား မုန်းတီးခြင်းများသည် အကျုံးမဝင်ပေ။ ဤ ချစ်မှု၊ မုန်းတီးမှုသည် မိမိအကျိုးရှိမှု၊ ဆုံးရှုံးမှုကြောင့်သာဖြစ်သည်)။

မွတ်စ်လင်မ်တို့သည် အစ္စလာမ်တရားတော်နှင့်အညီ ကျင့်မှုနေထိုင် ပေါင်းသင်းဆက်ဆံပါက သူတစ်ပါးတို့၏စိတ်ကို မိမိဘက်သို့ ယိမ်းညွတ်စေနိုင်ကြမည်၊ သူတစ်ပါးတို့၏ မေတ္တာကို ခိုလှုံနိုင်ကြပေမည်။ မေတ္တာသည် အကြီးဆုံးသော အင်အားစုကြီးပင်။

ဤအာယတ်တော်သည် မက္ကာမြို့တော်၌ ထုတ်ပြန်ချမှတ်တော်မူခဲ့သော အာယတ်တော်ဖြစ်သည်။ ဤအာယတ်တော်တွင် ကတိပြုထားတော် မူခဲ့သည့်အတိုင်း၊ အတိတ်ခေတ် မက္ကာမြို့သား မွတ်စ်လင်မ်များသည် မကြာမီအတွင်း သူတစ်ပါးတို့၏ ချစ်ကြည်မြတ်နိုးမှုကို အံ့ဖွယ်သရဲ ခံစားခဲ့ကြရသည်မှာ ရာဇဝင်အထင်အရှားပင်။

وَكَمْ أَهْلَكْنَا قَبْلَهُم مِّن قَرْنٍ
هَلْ تُحِسُّ مِنْهُم مِّنْ أَحَدٍ
أَوْ تَسْمَعُ لَهُمْ رِكْزًا ﴿٩٨﴾ ع

၉၈။ စင်စစ် ငါအရှင်မြတ်သည် ၎င်းတို့အလျင် များစွာသောအုပ်စုများကိုပင် ကွပ်မျက်ဖျက်ဆီးတော် မူခဲ့ပေသည်။ အသင်သည် ၎င်းတို့အနက် တစ်ဦး တစ်ယောက်ကိုပင် မြင်ပါသေးသလော။ သို့တည်း မဟုတ် အသင်သည် ၎င်းတို့၏ သဲ့သဲ့အသံကိုပင် ကြားပါသေးသလော။

(၂) အလ္လာဟ်အရှင်မြတ်သည် လူမျိုးအသီးသီးတို့ထံသို့ တမန်တော်များအား စေလွှတ်တော်မူရာတွင် များသောအားဖြင့် သက်ဆိုင်ရာ လူမျိုးအနက်မှပင် စေလွှတ်တော်မူလေ့ရှိခဲ့ပေသည်။ ကျမ်းဂန်များကိုလည်း သက်ဆိုင်ရာလူမျိုး၏ ဘာသာစကားဖြင့်ပင် ထုတ်ပြန် ချမှတ်တော်မူလေ့ရှိခဲ့သည်။ ထို့အတူ အလ္လာဟ်အရှင်မြတ်သည် အရဗ်အမျိုးသားတို့ထံသို့၊ ၎င်းတို့အနက်မှပင် တမန်တော်မြတ်အား စေလွှတ်တော်မူ၍ ကုရ်အာန်ကျမ်းမြတ်ကိုလည်း အရဗီဘာသာဖြင့်ပင် ထုတ်ပြန်ချမှတ်တော် မူခဲ့လေသည်။ ယင်းသို့ ထုတ်ပြန်ချမှတ်တော်မူခြင်း၏အကြောင်းမှာ လွယ်ကူစွာဖြင့် မွတ္တကီသူတော်စင်များအား ကောင်းချီးသတင်းပေးရန်နှင့် အလွန်အငြင်းအခုန်ပြုသော သူယုတ်မာတို့ကို သတိပေးရန်ပင် ဖြစ်သည်။

# တွာဟာ ကဏ္ဍ

سُوْرَةُ طٰهٰ

ဤကဏ္ဍသည် စူရဟ်တွာဟာ မည်၏။ မက္ကာမြို့တော်၌ ကျရောက်ခဲ့၏။
ဤကဏ္ဍတွင် အာယတ်တော် (၁၃၅)၊ ရကူအ် အပိုဒ်(၈) အသီးသီးပါရှိ၏။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ

အနန္တကရုဏာတော်ရှင် ဖြစ်တော်မူသော
မပြတ်မစဲ သနားကြင်နာတော်မူသော
အလ္လာဟ်အရှင်မြတ်၏ နာမံတော်ဖြင့် အစပြုပါ၏။

طٰهٰ ①

၁။ တွာ-ဟာ။ [၁]

مَآ اَنْزَلْنَا عَلَيْكَ الْقُرْاٰنَ لِتَشْقٰٓى ②

၂။ ငါအရှင်မြတ်သည် အသင် အတိဒုက္ခခံစားအံ့သောငှာ အသင့်အပေါ်ဝယ် ကုရ်အာန်ကျမ်းတော်မြတ်ကို ချပေးသနားတော်မူခဲ့သည် မဟုတ်ပေ။

اِلَّا تَذْكِرَةً لِّمَنْ يَّخْشٰى ③

၃။ စင်စစ်မှာမူကား (ဤကုရ်အာန်ကျမ်းတော်မြတ်သည်ငါအရှင်မြတ်အား)ကြောက်ရွံ့ (ရှိသေသော) သူ၏အဖို့ ဆုံးမသြဝါဒပင် ဖြစ်ပေသည်။ [၂]

---

① "တွာဟာ"သည် "ဟုရူဖ်မုကတ္တွအဟ်" ခေါ် သင်္ကေတအက္ခရာစုများတွင် အပါအဝင်ဖြစ်သည်။ ယင်းသည့် သင်္ကေတအက္ခရာစုများ၏ တိမှန်ကန်သော အလိုသဘောကို အလ္လာဟ်အရှင်မြတ်သာလျှင် အသိဆုံးဖြစ်တော်မူသည်။

② **ကုရ်အာန်ကို ထုတ်ပြန်တော်မူခြင်း၏ ရည်ရွယ်ချက်။**

ကုရ်အာန်ကျမ်းမြတ်ကို ထုတ်ပြန်ချမှတ်တော် မူခြင်းမှာ- အတိဒုက္ခဖြစ်စေရန်မဟုတ်၊ စိတ်နေသဘောထား နူးညံ့သိမ်မွေ့၍ အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ရှိသေခန့်ညားသော ပုဂ္ဂိုလ်များ တရားရကြရန် အလို့ငှာသာဖြစ်သည်။ ကုရ်အာန်ကျမ်းမြတ်ကို လက်ခံနာယူကျင့်မူသော ပုဂ္ဂိုလ်များသည် မအောင်မြင်ကြသည်မရှိ၊ အောင်မြင်ကြသည်သာဖြစ်သည်။ ကုရ်အာန်သည် ဒုက္ခမဟုတ်၊ သုခဖြစ်သည်။ အမှောင်မဟုတ်၊ အလင်းဖြစ်သည်။ အမှောင်ခွင်း၍ အလင်းဆောင်သည်။

အချို့ကျမ်းချက်များတွင် လာရှိသည်မှာ - တမန်တော်မြတ်သည် ဝဟီအာယတ်တော်များ စတင်ကျရောက်ခါစအချိန်တွင် ညဉ့်အခါ၌ မတ်တတ်ရပ်ပြီး ဆွလာတ်ဝတ်ပြုရာ၌ ကုရ်အာန်ကျမ်းမြတ်ကို ကြာရှည်စွာ ရွတ်ဖတ်သရဇ္ဈာယ်တော် မူလေ့ရှိခဲ့သည်။ ဤသည့်အချင်းအရာကို မြင်သောအခါ ကာဖိရ်များက "ကုရ်အာန်ကျရောက်လာခဲ့သည့်အတွက် မုဟမ္မဒ်သည် ကြီးစွာသောဒုက္ခကို ခံစားနေရပြီ" ဟု ပြောဆိုခဲ့ကြလေသည်။ ဤအာယတ်တော်တွင် ယင်းသို့သော ကာဖိရ်များအား ရည်ညွှန်း ဖြေကြားထားတော်မူသည်။

تَنْزِيْلًا مِّمَّنْ خَلَقَ الْاَرْضَ وَالسَّمٰوٰتِ الْعُلٰى ﴿٤﴾

၄။ ပထဝီမြေကြီးကိုလည်းကောင်း၊ မြင့်မားလှစွာသော မိုးကောင်းကင်များကိုလည်းကောင်း၊ ဖန်ဆင်းတော်မူသောအရှင်မြတ်၏အထံတော်မှ ချပေးသနားတော်မူခြင်းပင် ဖြစ်၏။

اَلرَّحْمٰنُ عَلَى الْعَرْشِ اسْتَوٰى ﴿٥﴾

၅။ (ထို) "ရဟ်မာန်" အနန္တကရုဏာတော်ရှင်ကား "အရ်ရှ်" ပလ္လင်တော်ထက်ဝယ် စံမြန်းတော်မူ၏။

لَهٗ مَا فِى السَّمٰوٰتِ وَمَا فِى الْاَرْضِ وَمَا بَيْنَهُمَا وَمَا تَحْتَ الثَّرٰى ﴿٦﴾

၆။ မိုးကောင်းကင်များ၌ ရှိသမျှတို့သည်လည်းကောင်း၊ ပထဝီမြေ၌ ရှိသမျှတို့သည်လည်းကောင်း၊ မိုးကောင်းကင်များနှင့် ပထဝီမြေတို့၏ အကြားဝယ် ရှိသမျှတို့သည်လည်းကောင်း၊ မြေအောက်၌ရှိသမျှတို့သည်လည်းကောင်း၊ ထိုအရှင်မြတ် ပိုင်ဆိုင်တော်မူသော အရာများသည်သျှင် ဖြစ်ကုန်၏။

وَاِنْ تَجْهَرْ بِالْقَوْلِ فَاِنَّهٗ يَعْلَمُ السِّرَّ وَاَخْفٰى ﴿٧﴾

၇။ (အို-နဗီတမန်တော်) အကယ်၍ အသင်သည် အသံကျယ်စွာ စကားပြောဆိုပါလျှင်လည်း (ထိုအရှင်မြတ်သည် သိတော်မူသည်သာ ဖြစ်၏။) စင်စစ် ထိုအရှင်မြတ်သည် စိတ်ထဲတွင် ပြောဆိုသောစကားကိုလည်းကောင်း၊ စိတ်ထဲတွင် ပေါ်ပေါက်ရုံမျှ ရှိသေးသောစကားကိုလည်းကောင်း၊ သိရှိတော်မူ၏။

اَللّٰهُ لَاۤ اِلٰهَ اِلَّا هُوَ ؕ لَهُ الْاَسْمَآءُ الْحُسْنٰى ﴿٨﴾

၈။ (ထိုအရှင်ကား) အလ္လာဟ်အရှင်မြတ်ပင် ဖြစ်တော်မူ၏။ ထိုအရှင်မြတ်မှတစ်ပါး ခဝပ်ကိုးကွယ်ရာ အရှင်ဟူ၍ အလျှင်းမရှိပြီ။ ထိုအရှင်မြတ်၌ အမွန်မြတ်ဆုံးသော နာမံတော်များသည် ရှိကုန်သတည်း။

وَهَلْ اَتٰىكَ حَدِيْثُ مُوْسٰى ﴿٩﴾

၉။ ၎င်းပြင် (နဗီတမန်တော်)မူစာ၏ အကြောင်းသတင်းသည် အသင့်ထံ ရောက်လာခဲ့လေပြီလော။

إِذْ رَأَىٰ نَارًا فَقَالَ لِأَهْلِهِ امْكُثُوا إِنِّي آنَسْتُ نَارًا لَّعَلِّي آتِيكُم مِّنْهَا بِقَبَسٍ أَوْ أَجِدُ عَلَى النَّارِ هُدًى ﴿١٠﴾

၁၀။ တစ်ရံရောအခါဝယ် ယင်း(နဗီတမန်တော်) မူစာသည် မီးတစ်ခုကို မြင်လေသော် မိမိအိမ်သူ အိမ်သားတို့အား "အသင်တို့သည် (ဤနေရာ၌ပင်) စောင့်ဆိုင်း၍ နေရစ်ကြလေကုန်။ ဧကန်မလွဲ ကျွန်ုပ်သည် မီးတစ်ခုကို တွေ့မြင်ရလေသည်။ ကျွန်ုပ်သည် ထိုမီးမှ မီးကျီးမီးခဲကို အသင်တို့ထံ ယူဆောင်လာနိုင်ရာ၏။ သို့တည်းမဟုတ် ကျွန်ုပ်သည် မီး၏အနီးတွင် လမ်းညွှန်တစ်စုံတစ်ရာကို တွေ့ရှိတန်ရာသည်" ဟု ပြောဆိုလေ၏။

فَلَمَّا أَتَاهَا نُودِيَ يَا مُوسَىٰ ﴿١١﴾

၁၁။ ထို့နောက် ယင်း(နဗီတမန်တော်)မူစာသည် ထိုမီး၏အနီးသို့ရောက်လတ်သော် (ဤသို့)အသံပြုခြင်း ဟစ်ခေါ်ခြင်းကို ခံခဲ့ရလေသည်။ အို-မူစာ၊ [၁]

**(၁) တမန်တော်မူစာ မဒ်ယန်မှအီဂျစ်သို့ အပြန်လမ်းတွင် ဒုက္ခဖြစ်ခြင်း။**

တမန်တော်မူစာသည် မဒ်ယန်တွင် တမန်တော်ရှုအိုက်ဗ်၏သမီးနှင့် ထိမ်းမြားခဲ့သည်။ တမန်တော်မူစာသည် မဒ်ယန်တွင် နှစ်အတော်ကြာနေထိုင်ပြီးနောက်၊ အီဂျစ်ပြည် မိမိသားချင်းများထံသို့ ပြန်ခဲ့သည်။ ခရီးတွင် အိမ်သူအိမ်သားများနှင့် ကိုယ်ဝန်ရှိသော မိမိ၏ ဇနီးလည်းပါရှိခဲ့သည်။ ခရီးတွင် ဆိတ်အုပ်လည်းပါခဲ့သည်။ ညဥ့်မှာ အလွန်မှောင်ခဲ့သည်၊ ဥတုရာသီမှာ အလွန်အေးခဲ့သည်။ ထိုအခြေအနေတွင် တမန်တော်မူစာသည် မျက်စိလည် လမ်းမေ့သွားခဲ့ရာ ဆိတ်များလည်း ဖရိုဖရဲကွဲသွားခဲ့ကြလေသည်။ 'ဘူးလေးရာ ဖရုံဆင့်' ဆိုသကဲ့သို့ ထိုအချိန်မှာပင် ဇနီးသည်တွင် သားဖွားရန်အတွက် ကမ္မဇလေလှုပ်လာခဲ့လေသည်။ ထိုအချိန်တွင် တမန်တော်မူစာသည် စိတ်အပျက်ကြီး ပျက်ခဲ့ရသည်။

အဖြစ်ကား - အချိန်မတော် လမ်းစပျောက်နေသည်၊ ညဥ့်အချိန် မှောင်အတိကျနေသည်၊ ဥတုမှာ အလွန်အေးလှသည်၊ ဇနီးသည်သည် သားဖွားရန်ဆဲဆဲဖြစ်သည်၊ အလင်းရောင်မရှိ၊ မီးမရှိ၊ မိမိ၌ပါရှိသော ကျောက်မီးခတ်ကို ခတ်သော်လည်း မီးမထွက်၊ ယင်းသို့ ကံဆိုးမိုးမှောင်ကျနေခိုက်တွင် တမန်တော်မူစာသည် အဝေး၌ မီးကိုလှမ်းမြင်မိလေသည်။

အမှန်မှာ ထိုမီးသည် လောကီဆိုင်ရာမီးမဟုတ်၊ အလ္လာဟ်အရှင်မြတ်၏ ရောင်ခြည်တော်သာဖြစ်သည်။ တမန်တော်မူစာသည် အလ္လာဟ်အရှင်မြတ်၏ ရောင်ခြည်တော်ကို မီးထင်မှတ်ကာ မိမိ၏အိမ်သူ အိမ်သားများအား "အသင်တို့သည် ဤနေရာတွင် ခေတ္တစောင့်ဆိုင်းကြ၊ ကျွန်ုပ် မီးရှိရာသို့သွားမည်၊ မီးပွား၍ ယူနိုင်ကောင်းယူခဲ့မည်၊ သို့မဟုတ် လမ်းစတွေ့ကောင်းတွေ့ခဲ့မည်" ဟု ပြောဆိုကာ မီးမြင်ရာသို့ သွားခဲ့လေသည်။

တမန်တော်မူစာသည် မီးမြင်ရာဒေသသို့ ရောက်ရှိသောအခါ အံ့ဖွယ်သရဲရှုကွက်ကို တွေ့မြင်ရသည်မှာ သစ်ပင်တစ်ပင်၌ မီးသည် အကြီးအကျယ် လောင်ကျွမ်းနေသည်။ မီးလောင်ကျွမ်းသည်နှင့်အမျှ သစ်ပင်သည် ➤➤

إِنِّيٓ أَنَا رَبُّكَ فَاخْلَعْ نَعْلَيْكَ إِنَّكَ بِالْوَادِ الْمُقَدَّسِ طُوًى ⑫

၁၂။ ဧကန်မလွဲ ငါအရှင်မြတ်သည် အသင့်အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်ပင်။ သို့ဖြစ်ပေရာ အသင်သည် မိမိ *ဖိနပ်နှစ်ဖက်ကို ချွတ်ပါလေ။* [၁] ဧကန်စင်စစ် အသင်သည် ထူးမြတ်သော *"တွူဝါ"* [၂] တောင်ကြားအရပ်၌ (ရောက်)ရှိနေချေပြီ။

وَأَنَا اخْتَرْتُكَ فَاسْتَمِعْ لِمَا يُوحَىٰ ⑬

၁၃။ စင်စစ် ငါအရှင်မြတ်သည် အသင့်အား (နဗီတမန်တော်အဖြစ်) ရွေးချယ်တော်မူပြီးဖြစ်ရာ အသင်သည် (မိမိထံသို့ ငါအရှင်မြတ်အထံတော်မှ) ထုတ်ပြန်ခြင်းခံရသောအမိန့်တော်များကို နားထောင်ပါလေ။

---

➤➤ စိမ်းစိုလာလေသည်။ သစ်ပင်သည် ပိုမို၍ စိမ်းစိုလာသည်နှင့်အမျှ မီးတောက်မီးလျှံသည် ကြီးမားလာလေသည်။ တမန်တော်မူစာသည် မီးလောင်စတစ်ခုကို ကောက်နိုင်ရန်အတွက် မီးလောင်ရာသို့ သွားသောအခါ မီးသည် အံ့ဖွယ်သရဲ ဝေးသွားလေသည်။ စိုးရိမ်ပြီး နောက်ဆုတ်လိုက်သောအခါ မီးသည် ပြန်လိုက်လာလေသည်။ ထိုသို့ ကြောက်ဖွယ် အံ့ဖွယ်အခြေအနေတွင် "ငါအရှင်မြတ်သည် အသင်၏ အရှင်သခင်ဖြစ်တော်မူသည်" ဟူသော အလ္လာဟ်အရှင်မြတ်၏ အာယတ်တော်သံကို ကြားရလေသည်။

တမန်တော်မူစာသည် (ယာ...မူစာ) "အို...မူစာ" ဟူသော အသံကိုကြားရသောအခါ "လဗ်ဗိုက်"၊ "ကျွန်တော်မျိုး အသင့်ရှိပါသည်" ဟု အကြိမ်ကြိမ် လျှောက်ထားခဲ့လေသည်။ ထို့နောက် တမန်တော်မူစာက "ကျွန်တော်မျိုးသည် အရှင်မြတ်၏ အသံတော်ကို ကြားရပါသည်၊ သို့ရာတွင် အရှင်မြတ်အား မဖူးတွေ့ရပါ"ဟု လျှောက်ထားခဲ့လေသည်။ ထိုအခါ အလ္လာဟ်အရှင်မြတ်က "ငါသည် အသင်၏အပေါ်၌ရှိသည်၊ အသင်နှင့်အတူရှိသည်၊ အသင်၏ရှေ့တွင်ရှိသည်၊ အသင်၏နောက်တွင်ရှိသည်၊ ငါသည် အသင်နှင့်အသင်၏ အသက်ဇီဝိန်ထက်ပင် ပို၍နီးသည်" ဟု မိန့်ကြားတော် မူခဲ့လေသည်။ ထိုအချိန်တွင် တမန်တော်မူစာသည် အလ္လာဟ်အရှင်မြတ်၏ အာယတ်တော်သံကို အဘက်ဘက်မှ အံ့ဖွယ်သရဲကြား၍ နေခဲ့ရပေသည်။

ဤအကြောင်း ကုရ်အာန် (၂၈း၂၉-၃၀)တွင်လည်း တွေ့ရှိရသည်။ ဤအကြောင်းကို ကုရ်အာန်(၁၉း၅၂)၏ အဖွင့်တွင်လည်း ရေးသားခဲ့ပေပြီ။

① တမန်တော်မူစာ ရောက်ရှိသွားခဲ့သော ထိုသန့်ပြန့်မြင့်မြတ်သော ကွင်းပြင်၏ အမည်မှာ (တွူဝါ)ဖြစ်သည်။ တမန်တော်မူစာသည် ဖိနပ်စီးလျက်ဖြစ်ခဲ့သည်၊ မြင့်မြတ်သောဌာနကို လေးစားစေသော အားဖြင့် ဖိနပ်ချွတ်ခိုင်းတော်မူခြင်းဖြစ်သည်။

② အလ္လာဟ်အရှင်မြတ်သည် တမန်တော်မူစာအား တမန်တော်အဖြစ် ချီးမြှင့်တော်မူခဲ့သော တောင်ကြားဒေသ၏ အမည်မှာ "တွူဝါ"ဟူ၍ဖြစ်သည်။ "တွူဝါ"သည် သိနကျွန်းစွယ်ရှိ သိနတောင်ခြေ၌ တည်ရှိသည်။ မုဖတ်စိစစ်ရှင်များစွာ၏ ယူဆချက်အရ "တွူဝါ" ၏အနက်မှာ "နှစ်ကြိမ်"ဟုလည်း ကောက်ယူကြသည် ဆိုလိုသည်ကာ နှစ်ကြိမ် အသံပြုတော်မူခြင်း ခံရသည်၊ သို့မဟုတ် နှစ်ကြိမ် သန့်စင်တော်မူခြင်း ခံရသည်ဟူ၍။ ဤအဆိုနှစ်ရပ်တွင် ပထမအဆိုသည် ယုတ္တိရှိသည်။

إِنَّنِيٓ أَنَا ٱللَّهُ لَآ إِلَٰهَ إِلَّآ أَنَا۠ فَٱعْبُدْنِى وَأَقِمِ ٱلصَّلَوٰةَ لِذِكْرِىٓ ﴿١٤﴾

၁၄။ ဧကန်အမှန် ငါ အရှင်မြတ်သည် ပင်လျှင် အလ္လာဟ်အရှင်မြတ်ဖြစ်တော်မူပေသည်။ ငါအရှင်မြတ်မှတစ်ပါး ခဝပ်ကိုးကွယ်ရာအရှင်ဟူ၍ အလျှင်းမရှိပြီ။ သို့ဖြစ်ပေရာ အသင်သည် ငါအရှင်မြတ်အားသာလျှင် ခဝပ်ကိုးကွယ်ပါလေ။ ထို့ပြင် အသင်သည် ငါအရှင်မြတ်အား သတိရခြင်းငှာ ဆွလာတ် ဝတ်ပြုမှုကို ဆောက်တည်ပါလေ။ [၁]

إِنَّ ٱلسَّاعَةَ ءَاتِيَةٌ أَكَادُ أُخْفِيهَا لِتُجْزَىٰ كُلُّ نَفْسٍۭ بِمَا تَسْعَىٰ ﴿١٥﴾

၁၅။ ဧကန်မလွဲ *ကိယာမတ်သည် ရောက်ရှိလာပေမည်။* [၂] လူတိုင်းလူတိုင်းသည် မိမိကြိုးပမ်းမှု၏ အကျိုးကို ခံစားနိုင်အံ့သောငှာ ငါအရှင်မြတ်သည် ယင်းကိယာမတ်နေ့ကို (မည်သူ့အားမျှ အသိမပေးဘဲ) လျှို့ဝှက်ထားလိုတော်မူပေသည်။

فَلَا يَصُدَّنَّكَ عَنْهَا مَن لَّا يُؤْمِنُ بِهَا وَٱتَّبَعَ هَوَىٰهُ فَتَرْدَىٰ ﴿١٦﴾

၁၆။ သို့ဖြစ်ပေရာ ယင်းကိယာမတ်ကို မယုံကြည်ဘဲ မိမိစိတ် အလိုဆန္ဒကို လိုက်စားသောသူသည် အသင့်အား ယင်းကိယာမတ်ကို ယုံကြည်ခြင်းမှ တားဆီးခြင်းမပြုစေနှင့်။ သို့မဟုတ်လျှင် အသင်သည်လည်း ပျက်စီးသွားအံ့သတည်း။

---

(၁) အစ္စလာမ်၏ အခြေခံမှုများတွင် "ဝဟ်ဒတ်၊ အိဗာဒတ်၊ ကိယာမတ်" ပါဝင်သည်၊ ဤအာယတ်တော်တွင် ဤသည့်အခြေခံမှု သုံးရပ်ကိုပင် တမန်တော်မူစာအား မိန့်ကြားထားတော်မူသည်။ အိဗာဒတ်တွင် ဆွလာတ်သည် အချုပ်ဖြစ်သည်၊ ထို့အတွက် ဆွလာတ်ကို အထူးတလည် ထုတ်ဖော်မိန့်ဆို ထားတော်မူခြင်း ဖြစ်သည်။

(၂) လူသားတို့ပြုမှုကြသော ကောင်းမှုမကောင်းမှု အစုစုတို့၏ ကျိုးပြစ်များသည် ဤတိုတောင်းလှသော ပစ္စက္ခဘဝ၌ အပြည့်အဝမပေါ်နိုင်ပေ။ ထို့အတွက် အကျိုးတရားများ အပြည့်အဝ ပေါ်လွင်ထင်ရှားရန် သတ်မှတ်ထားသည့် နေ့တစ်နေ့ မုချရှိရပေမည်။ ဤသည် ဉာဏ်မြော်အမြင်နှင့်လည်း ကိုက်ညီသည်၊ တရားမျှတသော သဘောအရလည်း ဤအတိုင်းပင်ဖြစ်ရပေမည်။

ထိုနေ့ကား အခြားမဟုတ်၊ ကိယာမတ်နေ့ပင်ဖြစ်သည်။ အချို့သူများသည် ကိယာမတ်ကို မယုံကြည်ပေ၊ ၎င်းတို့၏တွေးဆချက်အရ ဤအံ့မဆုံးသော စကြာဝဠာကြီးသည် ဤပစ္စက္ခဘဝ၌ပင် ကုန်ဆုံး ချုပ်ငြိမ်းသွားပေမည်။ ဤသည် အတွေးခေါင်မှု၊ အမြင်ကျဉ်းမှုပင်ဖြစ်သည်။ နောင်တမလွန်ကို မယုံကြည်သော သူများသည် မင်းမဲ့တိုင်းပြည်တွင် စိုးရိမ်ကြောင့်ကြမှု ကင်းစွာဖြင့် စိတ်၏အလိုလိုက်ကာ ဆိုးချင်တိုင်းဆိုး၍ မိုက်ချင်တိုင်း မိုက်ကြမည်သာဖြစ်သည်။



١٧ ٣ ⑰ وَمَا تِلْكَ بِيَمِينِكَ يٰمُوسٰى

၁၇။ ၎င်းပြင် အို-မူစာ၊ အသင်၏ လက်ယာဘက်လက်၌ ဤသည် အဘယ်အရာနည်း။ ၁

⑱ قَالَ هِيَ عَصَايَ أَتَوَكَّؤُا عَلَيْهَا وَأَهُشُّ بِهَا عَلٰى غَنَمِي وَلِيَ فِيهَا مَآرِبُ أُخْرٰى

၁၈။ ယင်းမူစာက(အို-အရှင်) ဤသည် ကျွန်တော်မျိုး၏ တောင်ဝှေး ဖြစ်ပါသည်။ ကျွန်တော်မျိုးသည် ယင်းတောင်ဝှေးပေါ်၌အမှီသဟဲပြုပါသည်။ ကျွန်တော်မျိုးသည် ယင်းတောင်ဝှေးဖြင့် မိမိဆိတ်များအဖို့ သစ်ခက်သစ်ရွက်များကိုလည်း ခြွေပါသည်။ ထိုမှ တစ်ပါး ကျွန်တော်မျိုးအဖို့ ယင်း တောင်ဝှေး၌ အခြားအလိုဆန္ဒများ (အလုပ်များ)လည်း ရှိပါသေးသည်ဟု လျှောက်ထား အစီရင်ခံခဲ့လေ၏။

⑲ قَالَ أَلْقِهَا يٰمُوسٰى

၁၉။ ထိုအရှင်မြတ်က အို-မူစာ အသင်သည် ယင်းတောင်ဝှေးကို (မြေကြီးပေါ်သို့) ပစ်ချပါလေဟု မိန့်ကြားတော်မူခဲ့လေ၏။

⑳ فَأَلْقٰهَا فَإِذَا هِيَ حَيَّةٌ تَسْعٰى

၂၀။ သို့ဖြစ်ပေရာ ထိုမူစာသည် ယင်းတောင်ဝှေးကို (မြေကြီးပေါ်သို့) ပစ်ချခဲ့သောအခါ ရုတ်တရက် ယင်းတောင်ဝှေးသည် လှုပ်ရှား သွားလာနေသော မြွေတစ်ကောင် ဖြစ်နေလေတော့၏။

---

➤➤ ထို့အတွက်ကြောင့်ပင် အလ္လာဟ်အရှင်မြတ်က တမန်တော်မူစာကဲ့သို့သော တမန်တော်ကြီးတစ်ပါးအားပင် ရှေ့အာယတ်တော်တွင် လာရှိသည့်အတိုင်း ကိယာမတ်ကို မယုံကြည်သော၊ မိမိစိတ်၏အလို လိုက်စားနေသော သူများကြောင့် ကိယာမတ်ကို မမေ့ပါလေနှင့်၊ သို့မဟုတ်က အသင်လည်း ပျက်စီးရမည်သာ ဖြစ်သည်ဟု အထူးတလည် သတိပေးထားတော်မူသည်။

① အလ္လာဟ်အရှင်မြတ်သည် တမန်တော်မူစာအား ဦးစွာပထမ တန်ခိုးပြာဋိဟာနှစ်ပါးကို ချီးမြှင့်၍ ဖတ်ရ်အောင်န်ထံ စေလွှတ်တော်မူခဲ့သည်။ ကြည့်-ကုရ်အာန် (၂၈း၂၉-၃၂)။ ယင်းသည့် တန်ခိုးပြာဋိဟာနှစ်ပါးမှာ တမန်တော်မူစာ၏ တောင်ဝှေးနှင့် တမန်တော်မူစာ၏ လက်ဖြစ်သည်။

တောင်ဝှေးနှင့်စပ်လျဉ်း၍ အလ္လာဟ်အရှင်မြတ်က မေးမြန်းတော်မူခြင်း၊ တမန်တော်မူစာက မိမိတောင်ဝှေးနှင့်စပ်လျဉ်း၍ အသုံးချပုံ၊ အကျိုးရှိပုံများကို လျှောက်ထားခြင်းမှာ ထိုအချိန်တွင် တမန်တော်မူစာ ကိုင်ဆောင်ထားသော တောင်ဝှေးသည် အခြားမဟုတ်၊ တမန်တော်မူစာ အမြဲတစေကိုင်ဆောင်လေ့ရှိသော တောင်ဝှေးပင်ဖြစ်သည်ကို တမန်တော်မူစာအား ပိုမိုသတိပြုစေရန်ပင်ဖြစ်သည်။ အဘယ်ကြောင့်ဆိုသော် ➤➤

قَالَ خُذْهَا وَلَا تَخَفْ سَنُعِيدُهَا سِيرَتَهَا الْأُولَىٰ ﴿٢١﴾

၂၁။ ထိုအရှင်မြတ်က (ဤသို့) မိန့်ကြားတော်မူခဲ့လေ၏။ (အို-မူစာ) အသင်သည် ယင်းမြွေကို (မိမိလက်ဖြင့်)ကိုင်ဖမ်းပါလေ၊ ၎င်းပြင် အသင်မကြောက်နှင့် ယခုပင် ငါအရှင်မြတ်သည် ယင်းမြွေကို ၎င်း၏မူလပထမအခြေအနေအတိုင်း ပြန်လည်၍ဖြစ်စေတော်မူမည်။ ၁

وَاضْمُمْ يَدَكَ إِلَىٰ جَنَاحِكَ تَخْرُجْ بَيْضَاءَ مِنْ غَيْرِ سُوءٍ آيَةً أُخْرَىٰ ﴿٢٢﴾

၂၂။ ထို့ပြင် အသင်သည် မိမိ(ယာဘက်)လက်ကို မိမိ (ဝဲဘက်)ချိုင်းကြားတွင် သွင်းလေ၊ ယင်းလက်မှာ နောက်ထပ်သက်သေ လက္ခဏာတော်တစ်ပါးအဖြစ် အပြစ်အနာအဆာ လုံးဝ မရှိဘဲ၊ လင်းဝင်းထွန်းတောက်လျှက် ထွက်ပေါ်၍ လာပေမည်။ ၂

لِنُرِيَكَ مِنْ آيَاتِنَا الْكُبْرَى ﴿٢٣﴾

၂၃။ (ဤသို့ ဖြစ်စေတော်မူခြင်းမှာ) ငါအရှင်မြတ်သည် မိမိကြီးကျယ်စွာသော သက်သေလက္ခဏာတော်များအနက် (အချို့ကို) အသင့်အား ပြသတော်မူရန်ဖြစ်ချေသည်။

➤➤ ယင်းသို့ သတိပြုနေသည့်အချိန်တွင် အလ္လာဟ်အရှင်မြတ်၏ တန်ခိုးတော်ဖြင့် တောင်ဝှေးစင်စစ်က မြွေဖြစ်သွားသည်ကို တွေ့မြင်ရသောအခါ ယင်းသို့ဖြစ်ခြင်းမှာ အလ္လာဟ်အရှင်မြတ်၏ တန်ခိုးပြာဋိဟာဖြစ်ကြောင်း ပိုမိုထင်ရှားသွားပေမည်။

① တမန်တော်မူစာသည် အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်ဖြင့် မိမိ၏တောင်ဝှေးကို မြေပေါ်သို့ ပစ်ချလိုက်သောအခါ၊ အဆိုပါတောင်ဝှေးသည် တောင်ဝှေးစင်စစ်က လုံးလုံးလျားလျား မြွေဖြစ်သွားပြီး၊ လျင်မြန်စွာ လှုပ်ရှားသွားလာနေလေတော့သည်။ ထိုအဖြစ်ကို တွေ့မြင်ရသောအခါ တမန်တော်မူစာသည် လူ့သဘာဝအလျှောက် ကြောက်ရွံ့မိလေသည်။ တစ်ဖန် ထိုအရှင်မြတ်၏ အမိန့်တော်ဖြင့် အဆိုပါမြွေကို ဖမ်းလိုက်သောအခါ၊ အဆိုပါမြွေသည် ယခင်အတိုင်း တောင်ဝှေးပကတိ ပြန်၍ဖြစ်သွားလေသည်။ ဤသည် အလ္လာဟ်အရှင်မြတ်၏ တမန်တော်မူစာအား ဦးစွာပထမ ချီးမြှင့်တော်မူခဲ့သော တန်ခိုးပြာဋိဟာ နှစ်ပါးဖြစ်သည်။

ဤအကြောင်းကို ကုရ်အာန်ကျမ်းမြတ် ကဏ္ဍစဉ်(၂၀)တွင် အကျယ်တဝင့် မိန့်ဆိုထားတော်မူသည်။

② အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်ဖြင့် တမန်တော်မူစာသည် မိမိ၏လက်ယာလက်ကို မိမိ၏ ဝဲဘက်ချိုင်းအောက်တွင်သွင်းပြီး ပြန်လည်ထုတ်လိုက်သောအခါ အဆိုပါလက်သည် ယခင်နှင့်မတူ တစ်မူထူးခြားပြီးနေရောင်၊ လရောင်ပမာ ဖြူဖွေးတောက်ပလျှက် ရှိနေပေသည်။ ယင်းသို့ ဖြူဖွေးခြင်းမှာ တစ်စုံတစ်ရာရောဂါကြောင့်အလျှင်းမဟုတ်ပေ။ ဤသည်လည်း အလ္လာဟ်အရှင်မြတ်က တမန်တော်မူစာအား ချီးမြှင့်တော်မူခဲ့သော တန်ခိုးပြာဋိဟာ ကိုးပါးအနက် တစ်ပါးဖြစ်သည်။

اِذْهَبْ اِلٰى فِرْعَوْنَ اِنَّهٗ طَغٰى ﴿٢٤﴾

၂၄။ (ယခုသော်) အသင်သည် ဖစ်ရ်အောင်န်ထံ သို့သွားလေ။ [၁] ဧကေန်မလွဲ ယင်းဖစ်ရ်အောင်န်ကား သွေဖည်ရာတွင် လွန်ကျူးနေချေပြီ။

قَالَ رَبِّ اشْرَحْ لِىْ صَدْرِىْ ﴿٢٥﴾

၂၅။ (ထိုအခါ) ယင်းမူစာက (ဤသို့)လျှောက်ထား ပန်ကြားခဲ့လေသည်။ အို-ကျွန်တော်မျိုး၏အရှင်မြတ်၊ အရှင်မြတ်သည် ကျွန်တော်မျိုးအဖို့ ကျွန်တော်မျိုး၏ ရင်ကို ကျယ်ဝန်းကြည်လင်စေတော်မူပါ။ [၂]

وَيَسِّرْ لِىْٓ اَمْرِىْ ﴿٢٦﴾

၂၆။ ၎င်းပြင် အရှင်မြတ်သည် ကျွန်တော်မျိုး၏ အရေးကိစ္စကို လွယ်ကူစေတော်မူပါ။

وَاحْلُلْ عُقْدَةً مِّنْ لِّسَانِىْ ﴿٢٧﴾

၂၇။ ထို့ပြင် အရှင်မြတ်သည် ကျွန်တော်မျိုး၏ လျှာမှ အထုံးကို ဖြေ၍ ပေးတော်မူပါ။

يَفْقَهُوْا قَوْلِىْ ﴿٢٨﴾

၂၈။ ကျွန်တော်မျိုး၏ စကားကို (လူသားတို့) နားလည်နိုင်ကြရန်၊

---

(၁) အလ္လာဟ်အရှင်မြတ်သည် တမန်တော်မူစာအား ဦးစွာပထမ တောင်ဝှေးတန်ခိုးပြာဋိဟာနှင့် လက်တန်ခိုးပြာဋိဟာ များကိုချီးမြှင့်၍ ဖစ်ရ်အောင်န်ထံ သွားရောက် တရားဓမ္မ ဟောညွှန်ပြရန် စေလွှတ်တော်မူခဲ့လေသည်။

(၂) **တမန်တော်မူစာ၏ ဆုဒိုအာ။**

တမန်တော်မူစာအား အလ္လာဟ်အရှင်မြတ်က ဖစ်ရ်အောင်န်ထံသို့ စေလွှတ်တော်မူသည့်အခါ တမန်တော် မူစာသည် ဤအာယတ်တော်များ (၂၀း၂၅-၃၅)တွင် လာရှိသည့်အတိုင်း ဆုပန်ကြားလေသည်။ အဘယ်ကြောင့် ဆိုသော် တမန်တော်မူစာအဖို့ အစ္စရာအီလီ မျိုးနွယ်ဝင်တို့အား တမန်တော်တစ်ပါးအနေနှင့် သွန်သင်ဆုံးမရမည့် တာဝန်ကား အလွန်ကြီးလေး လှသည်။ ဖစ်ရ်အောင်န်နှင့် ၎င်း၏ဘက်တော်သားများ၏ ဘေးရန်မှာလည်း မသေးလှပေ။ ထို့ပြင်တစ်ဝ တမန်တော်မူစာသည် နှုတ်လျှာမှာလည်း အနည်းငယ်လေး၍နေပေသည်။

ထို့အတွက် တမန်တော်မူစာက အလ္လာဟ်အရှင်မြတ်ထံတော်၌ "ကျွန်တော်မျိုး၏ စိတ်နှလုံးကို ပွင့်လင်းစေတော်မူပါ၊ နှလုံးရည် ပေးသနားတော်မူပါ၊ ကျွန်တော်မျိုး၏ ကိစ္စအဝဝကို လွယ်ကူစေတော်မူပါ၊ ကျွန်တော်မျိုးအား ပွင့်လင်းသွက်လက်စွာ ဟောကြားနိုင်စွမ်း ပေးသနားတော်မူပါ။ ထို့ပြင်တစ်ဝ ကျွန်တော်မျိုး၏ နောင်တော်ကြီး ဟာရူန်အား ကျွန်တော်မျိုး၏တာဝန်တွင် ဖက်စပ်ပါဝင်စေတော်မူပြီး၊ ကျွန်တော်မျိုးအား ကူညီ ယိုင်းပင်းသူအဖြစ် ချီးမြှင့်တော်မူပါ စသည်ဖြင့် လျှောက်ထား ပန်ကြားခဲ့လေသည်။

အရဗီဘာသာစာပေတွင် "ဆွာဒ်ရ်" ဟူသည် Chest ရင်၊ ရင်အုပ် အနက်၌ဖြစ်သည်။ သို့ရာတွင် အိမာမ် ရာဃစ်ဗ်က ကုရ်အာန်ကျမ်းမြတ်တွင် လာရှိသော "ကလ်ဗ်" နှလုံး၊ "ဆွာဒ်ရ်" ရင်-ဟူသော ▷▷

وَاجْعَلْ لِّيْ وَزِيْرًا مِّنْ اَهْلِيْ ﴿٢٩﴾

၂၉။ ထိုမှတစ်ပါး အရှင်မြတ်သည် ကျွန်တော်မျိုး၏ အိမ်ထောင်စုသားတို့အနက်မှပင် ကျွန်တော်မျိုးအဖို့ ကူညီယိုင်းပင်းသူအဖြစ် ပြုလုပ်၍ပေးသနားတော်မူပါ။

هٰرُوْنَ اَخِيْ ﴿٣٠﴾

၃၀။ ကျွန်တော်မျိုး၏နောင်တော် ဟာရူန်အား၊

اشْدُدْ بِهٖٓ اَزْرِيْ ﴿٣١﴾

၃၁။ အရှင်မြတ်သည် *ယင်းဟာရူန်အားဖြင့် ကျွန်တော်မျိုး၏အင်အားကို ဖြည့်တင်း၍ပေးတော်မူပါ။* ①

وَاَشْرِكْهُ فِيْٓ اَمْرِيْ ﴿٣٢﴾

၃၂။ ထိုမှတစ်ပါး အရှင်မြတ်သည် ယင်းဟာရူန်အား ကျွန်တော်မျိုး၏အရေးကိစ္စတွင်လည်း တွဲဖက်၍ ပေးတော်မူပါ။

كَيْ نُسَبِّحَكَ كَثِيْرًا ﴿٣٣﴾

၃၃။ ကျွန်တော်မျိုးတို့သည် အရှင်မြတ်၏ တတ်စ်ဗီဟ် (သန့်ရှင်းစင်ကြယ်တော်မူကြောင်း)ကို များစွာ ဂုဏ်တော်မွမ်းနိုင်ကြအံ့သောငှာလည်းကောင်း။

وَّنَذْكُرَكَ كَثِيْرًا ﴿٣٤﴾

၃၄။ ကျွန်တော်မျိုးတို့သည် အရှင်မြတ်အား များစွာအောက်မေ့တသ သတိရနိုင် ကြအံ့သောငှာ လည်းကောင်း။

---

➢➢ ပုဒ်များသည် ပုံသေနည်းအားဖြင့် ကိုယ်ခန္ဓာ၏ အင်္ဂါအစိတ်အပိုင်းများကို ဆိုလိုသည်မဟုတ်၊ အသိဉာဏ်နှင့် အတွင်းဆိုင်ရာ အင်အားနှလုံးရည်များကိုသာ ဆိုလိုသည်ဟူ၍ အဆိုတစ်ရပ်ကို ထုတ်ဖော် ရေးသားထားသည်။ ကြည့်-မာဂျိဒီ။

① **နောင်တော်ကြီးဟာရူန်ကို မိမိအား ကူညီယိုင်းပင်းသူအဖြစ် ချီးမြှောက်ပေးတော်မူရန် ညီတော် တမန်တော် မူစာ၏ဆုဒိုအာ။**

တမန်တော်မူစာသည် အလ္လာဟ်အရှင်မြတ်ထံတော်၌ မိမိ၏နောင်တော်ကြီးဟာရူန်အား မိမိ၏ နုဗုဝါတ်၊ ရိစာလတ် တာဝန်တွင် ဖက်စပ်ပါဝင်စေ၍ မိမိအား ကူညီယိုင်းပင်းသော တမန်တော်တစ်ပါးအဖြစ် ချီးမြှောက်ပေးတော်မူရန် ဆုပန်ကြားခဲ့လေသည်။ ယင်းသို့ ဆုပန်ကြားခဲ့ခြင်းအားဖြင့် တိုင်ပင်ဖော် တိုင်ပင်ဖက် ရရှိမည်၊ စိတ်ဓာတ်ခိုင်မြဲမည်။

နောင်တော်ကြီးဟာရူန်သည် စကားပြောဆိုရာတွင် ကောင်းမွန်ပြေပြစ်၊ ထိမိစွာ ပြောဆိုတတ်သည့် အတွက် တရားဓမ္မဟောကြားရာ၌ ပိုမိုအကျိုးသက်ရောက်ပေမည်။ ညီနောင်အချင်းချင်း ကူညီရာလည်း ရောက်သည်။ ဤသို့အားဖြင့် သာသနာရေးတာဝန်များကို တက်ညီလက်ညီ ဆောင်ရွက်နိုင်ပြီး ➢➢

إِنَّكَ كُنتَ بِنَا بَصِيرًا ٣٥

၃၅။ ကေန်မလွဲ အရှင်မြတ်သည် ကျွန်တော်မျိုးတို့အား ကောင်းစွာ ရှုမြင်တော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူပါသတည်း။

قَالَ قَدْ أُوتِيتَ سُؤْلَكَ يَٰمُوسَىٰ ٣٦

၃၆။ ထိုအရှင်မြတ်သည် (ဤသို့) မိန့်ကြားတော်မူခဲ့လေသည်။ အို-မူစာ၊ ကေန်မလွဲ အသင်သည် မိမိတောင်းခံချက်ကို ချီးမြှင့် ပေးသနားတော်မူခြင်း ခံရလေပြီ။ ၁

وَلَقَدْ مَنَنَّا عَلَيْكَ مَرَّةً أُخْرَىٰ ٣٧

၃၇။ အမှန်စင်စစ်မူကား ငါ အရှင်မြတ်သည် အသင့် အပေါ်၌ ယခင်ကလည်း တစ်ကြိမ် ကျေးဇူးပြုတော် မူခဲ့ဖူးလေသည်။ ၂

---

➤➤ အလ္လာဟ်အရှင်မြတ်အား ပိုမို၍ ဂုဏ်တော်မွမ်းနိုင်ကြမည်၊ ထိုအရှင်မြတ်အား ပိုမို၍ အောက်မေ့တသ သတိရနိုင်ကြမည်။ ညီနောင်အချင်းချင်း အကျိုးပြုရာ၌ တမန်တော်မူစာသည် ကမ္ဘာတွင် စံနမူနာပင် ဖြစ်တော်မူခဲ့ပေသည်။

၁ အလ္လာဟ်အရှင်မြတ်သည် တမန်တော်မူစာ၏ လျှောက်ကန်သင့်မြတ်သော ပန်ကြားချက်များကို လက်ခံသဘောတူ တော်မူလိုက်လေသည်။

၂ **တမန်တော်မူစာ၏ အပေါ်၌ အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်။**

အလ္လာဟ်အရှင်မြတ်သည် တမန်တော်မူစာ၏ ပန်ကြားချက်များကို လက်ခံ သဘောတူတော်မူခဲ့သည် သာမက၊ ထိုအရှင်မြတ်သည် ယခင်က တမန်တော်မူစာအပေါ်၌ တမန်တော်မူစာ တစ်စုံတစ်ရာ မပန်ကြားခဲ့ပဲလျက် နှင့်ပင် ကြီးမားသော ကျေးဇူးတော်ကို ပြုတော်မူခဲ့လေသည်။ ယင်းကဲ့သို့ ယခင်က တစ်စုံတစ်ရာ မပန်ကြားခဲ့ပဲလျက် နှင့်ပင် ကျေးဇူးတော်ပြုတော်မူခဲ့သော အရှင်မြတ်သည် ယခု တမန်တော်မူစာ၏ လျှောက်ကန်သင့်မြတ်သော ပန်ကြားချက်ကို အသို့လျှင် ပေးသနားတော်မမူပဲ နေတော်မူအံ့နည်း။

ဖစ်ရ်အောင်န်သည် ဗေဒင် ဟူးရားများ၏ ဟောကြားချက်အရ အစ္စရာအီလီမျိုးနွယ်တွင် မွေးဖွားသော သားယောကျ်ားကလေးများကို တစ်ယောက်မကျန် သတ်ဖြတ်ရန် အမိန့်ထုတ်ထားခဲ့၏။ ဖစ်ရ်အောင်န်၏ လူသတ်အာဏာသား လက်မရွံ့များသည် အစ္စရာအီလီမျိုးနွယ်တွင် မွေးဖွားသမျှသော သားယောကျ်ားကလေးများကို တစ်ယောက်မကျန် သတ်ဖြတ်လျက်ရှိခဲ့ကြ၏။ ထိုအချိန်မျိုးမှာပင် တမန်တော်မူစာသည် ဖွားမြင်လာခဲ့ပေသည်။

ယင်းသို့သော အချိန်မျိုးတွင် တမန်တော်မူစာ ဖွားမြင်လာခဲ့ပေရာ တမန်တော်မူစာ၏ မိခင်သည် မိမိ၏ ရင်သွေး၊ ရင်နှစ်သားချစ်အတွက် ပူပန်သောကဖြစ်ခဲ့၏။ ဤသား ဖွားမြင်သည့်ကိစ္စကို ထိန်ချန် လျှို့ဝှက်ထားပါက မင်း၏နား ပေါက်ကြားသွားသော် မင်းပြစ်ဒဏ် ခံရမည်ကိုလည်း စိုးရိမ်ခဲ့၏။ ထိုအချိန်တွင် အလ္လာဟ်အရှင်မြတ်သည် တမန်တော်မူစာ၏မိခင်အား ကုရ်အာန် (၂၀း၃၇-၄၀)တွင် လာရှိသည့်အတိုင်း သားငယ်အား သေတ္တာတစ်ခုတွင်ထည့်၍ (နိုင်လ်)မြစ်ထဲ မျှောစေတော်မူခဲ့လေသည်။ ➤➤

၃၈။ အကြင် အခါဝယ် ငါ အရှင်မြတ်သည် အသင်၏မိခင်ထံသို့ ထုတ်ပြန်အပ်သော အကြောင်းကို ထုတ်ပြန်တော်မူခဲ့သည်မှာ . . .

إِذْ أَوْحَيْنَآ إِلَىٰٓ أُمِّكَ مَا يُوحَىٰٓ ﴿٣٨﴾

---

➤➤ မြစ်လက်တက်တစ်ခုသည် ဖစ်ရ်အောင်န်၏ ဥယျာဉ်အတွင်းသို့ စီးဝင်လျက်ရှိရာ အဆိုပါသေတ္တာသည် မြစ်လေလှိုင်းများ၏ ပုတ်ခတ်မှုကြောင့် ဖစ်ရ်အောင်န်၏ ဥယျာဉ်အတွင်းသို့ ရောက်ရှိသွားခဲ့လေသည်။ ဖစ်ရ်အောင်န်၏ ကြင်ရာ အာစီယဟ်သခင်မသည် (အစ္စရာအီလီမျိုးနွယ်ဝင် သူတော်စင်အမျိုးသမီး တစ်ဦးဖြစ်သည်) ဥယျာဉ်တွင်းသို့ မျောပါလာသော သေတ္တာကို ဆယ်ယူကြည့်ရာ ချစ်စဖွယ်၊ သနားစဖွယ်လှပသော ကလေးငယ်ကို အံ့ဖွယ်သရဲ တွေ့ရှိရသောအခါ ဖစ်ရ်အောင်န်ထံယူလာပြီး သားအဖြစ် မွေးစားထားရန် လျှောက်ထားလေသည်။ ဖစ်ရ်အောင်န်သည်လည်း ချစ်စဖွယ်ကလေးကိုမြင်၍ ဝမ်းတွင်းပေါက်ဖွား၊ ရင်နှစ်သားကဲ့သို့ ချစ်သနားခဲ့လေသည်။ အချို့ကျမ်းချက်အရ ဖစ်ရ်အောင်န်သည် အဆိုပါကလေးကို သားအဖြစ် မွေးစားရန် သဘောမတူခဲ့သော်လည်း၊ ကြင်ရာတော် အာစီယဟ်အား ထောက်ထားကာ နန်းတော်တွင် သားသမီးများကဲ့သို့ပင် ကောင်းမွန်စွာ မွေးမြူထားခွင့်ပြုခဲ့လေသည်။

တမန်တော်မူစာ၏ မိခင်သည် ရင်သွေးအား မြစ်ထဲတွင် မျှောလိုက်ပြီးနောက် ရင်သွေးအတွက် ပူဆွေးလှသဖြင့် တမန်တော်မူစာ၏ အစ်မအား အခြေအနေကို လျှို့ဝှက်စွာ ထောက်လှမ်းနိုင်ရန် စေလွှတ်ထားခဲ့လေသည်။ အစ်မဖြစ်သူ (မရ်ယမ်)သည်လည်း ကိုယ်ရှိန်သတ်ကာ မောင်လေး၏ အခြေအနေကို အကဲခပ်ရန် မလှမ်းမကမ်းမှ လမ်းလျှောက်၍ လိုက်ပါခဲ့လေသည်။

(တမန်တော်)မူစာသည် နန်းတော်တွင်းရှိ မည်သည့် အမျိုးသမီး၏ နို့ကိုမျှ မစို့ဘဲ နေခဲ့၏၊ နို့ထိန်းသည် အမျိုးမျိုးပြောင်းလဲ၍ နို့တိုက်ကျွေးသော်လည်း မည်သူ၏နို့ရည်ကိုမျှ လက်မခံခဲ့ပေ။ ထို့အတွက် အာစီယဟ်သခင်မလည်း ကလေးအတွက် စိတ်ပျက်နေခဲ့၏။

ထိုအခြင်းအရာကို (တမန်တော်မူစာ၏) အစ်မဖြစ်သူ မြင်သောအခါ "ဤကလေးကို ကောင်းစွာ နို့တိုက်ကျွေး၍ မွေးမြူနိုင်မည့် ကလေးအမေ တစ်ဦးရှိသည်၊ ခွင့်ပြုပါက ကျွန်မ ခေါ်လာနိုင်ပါသည်" ဟု ပြောရာ နန်းတွင်းမှ ခေါ်စေဟု အမိန့်ရရှိသဖြင့် အစ်မဖြစ်သူသည် တမန်တော်မူစာ၏ မွေးသမိခင် ကျေးဇူးရှင်အား နန်းတွင်းသို့ ခေါ်လာခဲ့လေသည်။ ကလေးအား နို့တိုက်ကျွေးသောအခါ သားတော်မူစာသည် မိမိ၏ မိခင်ရင်း၏ နို့ရည်ကို ကြည်ဖြူစွာ သောက်သုံးလေသည်။ ထိုအခါ နန်းတော်သူ နန်းတော်သား အားလုံးတို့သည် ပျော်မဆုံး ဖြစ်ခဲ့ကြလေသည်။

ထို့နောက် တမန်တော်မူစာ၏မိခင်က "ကျွန်မသည် မိမိ၏ဝေယျာဝစ္စများကြောင့် နန်းတော်တွင် လာရောက်မနေနိုင်ပါ၊ ခွင့်ပြုလျှင် ဤကလေးကို မိမိအိမ်တွင် ကောင်းစွာထားပြီး မွေးမြူပါမည့်အကြောင်း လျှောက်ထားရာ နန်းတွင်းခွင့်ပြုချက်အရ ကလေးအား အဆောင်အယောင်ဖြင့် မိမိအိမ်သို့ ယူဆောင်လာခဲ့ပြီး မိမိရင်သွေးအား မိမိအိမ်တွင် မိမိကိုယ်တိုင် မိမိစိတ်တိုင်းကျ ယုယပိုက်ထွေး၊ နို့ချိုတိုက်ကျွေးခွင့် ရရှိခဲ့လေသည်။ ဤကား အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်ပင်။

ဤအကြောင်း ကုရ်အာန် (၂၈း၃-၁၃)တွင် အကျယ်တဝင့် ပါရှိသည်။

أَنِ اقْذِفِيهِ فِي التَّابُوتِ فَاقْذِفِيهِ فِي الْيَمِّ فَلْيُلْقِهِ الْيَمُّ بِالسَّاحِلِ يَأْخُذْهُ عَدُوٌّ لِّي وَعَدُوٌّ لَّهُ ۚ وَأَلْقَيْتُ عَلَيْكَ مَحَبَّةً مِّنِّي ۚ وَلِتُصْنَعَ عَلَىٰ عَيْنِي ﴿٣٩﴾

၃၉။ အသင်မသည် ထိုမူစာအား သေတ္တာထဲသို့ ထည့်လော့။ ထို့နောက် အသင်မ ယင်းမူစာအား (သေတ္တာနှင့်တကွ) မြစ်ထဲသို့ (မျှော)ချလော့။ ထို အခါ ထိုမြစ်(ရေ)သည် ယင်းမူစာအား ကမ်းခြေသို့ (ခတ်ရိုက်) ဆိုက်ရောက်စေမည်။ ထိုရောအခါဝယ် ငါအရှင်မြတ်၏ ရန်သူလည်းဖြစ်သူ၊ ထိုမူစာ၏ ရန်သူလည်း ဖြစ်သူသည် ထိုမူစာအား (ရေထဲမှ) ဆယ်ယူလိမ့်မည်ဟု(ထုတ်ပြန်တော်မူခဲ့လေသည်။)

ထို့ပြင် ငါအရှင်မြတ်သည် (အသင့်အား မြင်သူတိုင်းချစ်ခင်အံ့သောငှာ) အသင့်အပေါ်၌ မိမိ အထံတော်မှ ချစ်မြတ်နိုးမှုကို သက်ရောက်စေတော် မူခဲ့ပေသည်။ (ယင်းကဲ့သို့ ပြုတော်မူခြင်းမှာ) စင်စစ် အသင်သည် ငါအရှင်မြတ်၏ မျက်မှောက်တော်၌ မွေးမြူပြုစုခြင်း ခံရအံ့သောငှာ ဖြစ်ပေသတည်း။

إِذْ تَمْشِي أُخْتُكَ فَتَقُولُ هَلْ أَدُلُّكُمْ عَلَىٰ مَن يَكْفُلُهُ ۖ فَرَجَعْنَاكَ إِلَىٰ أُمِّكَ كَيْ تَقَرَّ عَيْنُهَا وَلَا تَحْزَنَ ۚ وَقَتَلْتَ نَفْسًا فَنَجَّيْنَاكَ مِنَ الْغَمِّ وَفَتَنَّاكَ فُتُونًا ۚ فَلَبِثْتَ

၄၀။ အကြင်အခါဝယ် အသင်၏ အစ်မသည် လမ်းလျှောက်၍လာလေသည်။ ထို့နောက် ၎င်းက ကျွန်ုပ်သည် အသင်တို့အား ဤ(ကလေးသူငယ်)ကို (ကောင်းစွာ) မွေးမြူပြုစုနိုင်မည့်သူအား ညွှန်ပြရ မည်လောဟု ပြောဆိုလေသည်။

တစ်ဖန် ငါအရှင်မြတ်သည် အသင်အား အသင်၏ မိခင်ထံသို့ ထိုမိခင်၏ မျက်စိအေးမြ (ကြည်လင်)အံ့သောငှာလည်းကောင်း၊ ယင်းမိခင်သည် ဝမ်းနည်းပူဆွေးခြင်း မဖြစ်ရန်လည်းကောင်း၊ ပြန်လည် ရောက်ရှိစေတော်မူခဲ့ပေသည်။

سِنِيْنَ فِيْٓ اَهْلِ مَدْيَنَ ۙ ثُمَّ جِئْتَ عَلٰى قَدَرٍ يّٰمُوْسٰى ۝٤٠

ထို့ပြင် အသင်သည် လူတစ်ယောက်ကို *(မတော်တဆ) သတ်ဖြတ်မိခဲ့ရာ* [၁] ငါအရှင်မြတ်သည် အသင်၏ စိတ်ဒုက္ခရောက်ရှိခြင်းမှ ကယ်တင်တော်မူခဲ့လေသည်။ ၎င်းပြင် ငါအရှင်မြတ်သည် အသင့်အား အကြီးအကျယ် စမ်းသပ်တော်မူခဲ့ပေသည်။ ထို့နောက် အသင်သည် *မဒ်ယန်မြို့သားတို့တွင် အနှစ်နှစ်အလလ နေ(ထိုင်)ခဲ့လေသည်။* [၂] ထို့နောက် တစ်ဖန် အို-မူစာ၊ အသင်သည် သတ်မှတ်ပိုင်းခြားအပ်သော အချိန်၌ (ဤနေရာသို့ ပြန်လည်) ရောက်ရှိလာခဲ့လေသည်။ [၃]

وَاصْطَنَعْتُكَ لِنَفْسِيْ ۝٤١

**၄၁။** စင်စစ် ငါအရှင်မြတ်သည် အသင်အား မိမိ (နဗီတမန်တော်အဖြစ် ချီးမြှောက်ရန်)အလို့ငှာ ရွေးချယ်တော်မူခဲ့လေပြီ။ [၄]

---

(၁) တမန်တော်မူစာ အရွယ်ရောက်သောအခါ တမန်တော်မူစာ၏ လက်ချက်ဖြင့် (Copt) အီဂျစ်တိုင်းရင်းသား တစ်ယောက် မတော်တဆ သေဆုံးသွားခဲ့လေသည်။ ထိုအခါ တမန်တော်မူစာသည် ယင်းသို့ မိမိလက်ချက်ဖြင့် အီဂျစ်ပြည်သားတစ်ယောက် သေကြေပျက်စီး သွားရသည့်အတွက် ဤပစ္စက္ခတွင်လည်း မင်းပြစ်ဒဏ်ခံရမည်၊ နောင်တမလွန်ဘဝတွင်လည်း ငရဲဒဏ်ခံရမည် ဖြစ်သည်ကို တွေးတောကာ စိုးရိမ်ကြောက်ရွံ့ခဲ့လေသည်၊ ပူဆွေးခဲ့လေသည်။ သို့ရာတွင် အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်ဖြင့် အလ္လာဟ်အရှင်မြတ်ထံတော်၌ အချိန်မီ ဝန်ချတောင်းပန်ခဲ့လေသည်၊ အီဂျစ်ပြည်မှ တိမ်းရှောင်၍ မဒ်ယန်သို့ ရောက်ရှိလာခဲ့သည့်အတွက် မင်းပြစ်ဒဏ်မှလည်း လွတ်မြောက်ခဲ့လေသည်။

ဤအကြောင်းကို ကုရ်အာန်ကျမ်းမြတ်ကဏ္ဍစဉ်(၂၈)တွင် အကျယ်တဝင့် မိန့်ဆိုထားတော်မူသည်။

(၂) **တမန်တော်မူစာ မဒ်ယန်သို့ ရောက်ရှိလာခဲ့ခြင်း။**

တမန်တော်မူစာသည် ဖစ်ရ်အောင်န်၏ဘေးရန်ကို စိုးရိမ်သဖြင့် အီဂျစ်ပြည်မှတိမ်းရှောင်၍ မဒ်ယန် (Midian)သို့ ရောက်ရှိလာခဲ့လေသည်။ တမန်တော်မူစာသည် မဒ်ယန်သို့ ရောက်ရှိလာပြီး တမန်တော်ရှုအိုက်ဗ်၏သမီး ဆဖ္ဖူရာသခင်မနှင့် ထိမ်းမြားခဲ့လေသည်။

(၃) တမန်တော်မူစာအား တမန်တော်အဖြစ် ချီးမြှင့်တော်မူရန်အတွက် သတ်မှတ်ထားတော် မူသောအချိန်အခါ ကျရောက်လာသည့်အခါ တမန်တော်မူစာသည် အလ္လာဟ်အရှင်မြတ် ပြုစီမံထားတော်မူသည့်အတိုင်း မဒ်ယန်မှ အီဂျစ်သို့ ပြန်လာခဲ့ရလေသည်။

(၄) **တမန်တော်မူစာအား တမန်တော်အဖြစ် ချီးမြှင့်တော်မူခြင်း။**

တမန်တော်မူစာသည် မဒ်ယန်မှ အီဂျစ်သို့အပြန် သိနတောင်ခြေရှိ 'တုဝါ' မည်သော တောင်ကြား➢➢

اِذْهَبْ اَنْتَ وَاَخُوْكَ بِاٰيٰتِیْ وَلَا تَنِيَا فِیْ ذِكْرِیْ ﴿٤٢﴾

၄၂။ (သို့ဖြစ်ပေရာယခုမူကား) အသင်သည်လည်းကောင်း၊ အသင်၏နောင်တော်(ဟာရွန်)သည်လည်းကောင်း၊ ငါအရှင်မြတ်၏သက်သေလက္ခဏာတော်များနှင့်တကွ သွားကြလေကုန်။ ၎င်းပြင် အသင်တို့နှစ်ဦးသည် ငါအရှင်မြတ်အား အောက်မေ့တသခြင်းနှင့် စပ်လျဉ်း၍ ဝီရိယ မပေါ့ကြကုန်လင့်။

اِذْهَبَاۤ اِلٰی فِرْعَوْنَ اِنَّهٗ طَغٰی ﴿٤٣﴾

၄၃။ အသင်တို့ နှစ်ဦးသည် ဖစ်ရ်အောင်န်ထံသို့ သွားကြလေကုန်။ ဧကန်မလွဲ ယင်းဖစ်ရ်အောင်န်သည် လွန်စွာ မောက်မာလျက် ရှိနေချေပြီ။

فَقُوْلَا لَهٗ قَوْلًا لَّيِّنًا لَّعَلَّهٗ يَتَذَكَّرُ اَوْ يَخْشٰی ﴿٤٤﴾

၄၄။ ထို့နောက် အသင်တို့ နှစ်ဦးသည် ၎င်းအား နူးညံ့သိမ်မွေ့သော စကားကို ပြောဆိုကြလေကုန်။ ယင်းဖစ်ရ်အောင်န်သည် တရားရကောင်း ရရှိပေလိမ့်မည်။ သို့တည်းမဟုတ်၎င်းသည် (အလ္လာဟ်အရှင်မြတ်အား) ကြောက်ရွံ့ကောင်း ကြောက်ရွံ့ပေလိမ့်မည်။

قَالَا رَبَّنَاۤ اِنَّنَا نَخَافُ اَنْ يَّفْرُطَ عَلَيْنَاۤ اَوْ اَنْ يَّطْغٰی ﴿٤٥﴾

၄၅။ (ထိုအခါ) ယင်း(မူစာနှင့်ဟာရွန်)တို့နှစ်ဦးက အို-ကျွန်တော်မျိုးတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၊ ဧကန်အမှန် ကျွန်တော်မျိုးတို့သည် မိမိတို့အား ယင်းဖစ်ရ်အောင်န်က အဆောတလျင် ဒုက္ခပေးမည်ကိုလည်းကောင်း၊ ယင်းသည် ပိုမို၍ပင် ဆိုးသွမ်းလာမည်ကိုလည်းကောင်း၊ စိုးရိမ်မိကြပါသည်ဟု လျှောက်ထား ပန်ကြားခဲ့ကြလေသည်။

---

➤➤ ဒေသသို့ ရောက်ရှိလာခဲ့သောအခါ အလ္လာဟ်အရှင်မြတ်သည် တမန်တော်မူစာအား တမန်တော်အဖြစ် စတင် ချီးမြှင့်တော်မူခဲ့လေသည်။ တမန်တော်မူစာအား တမန်တော်အဖြစ် ချီးမြှင့်တော်မူသည့်အကြောင်းကို ကုရ်အာန် (၂၀း၉-၂၄)တွင် အကျယ်တဝင့် မိန့်ဆိုထားတော်မူသည်။ သက်ဆိုင်ရာ အောက်ခြေအမှတ်များကို ပြန်လည် ရှုပါကုန်။

قَالَ لَا تَخَافَآ إِنَّنِي مَعَكُمَآ
أَسْمَعُ وَأَرَىٰ ﴿٤٦﴾

၄၆။ (သို့ဖြစ်ပေရာ) ထိုအရှင်မြတ်က (ဤသို့)မိန့်ကြားတော်မူခဲ့၏။ အသင်တို့နှစ်ဦးသည် မစိုးရိမ်ကြလင့်။ ဧကန်မလွဲ ငါအရှင်မြတ်သည် အသင်တို့နှစ်ဦးနှင့်အတူ ရှိတော်မူ၏။ ငါအရှင်မြတ်သည် (အလုံးစုံတို့ကို) ကြားတော်မူ၏။ ၎င်းပြင် ငါအရှင်မြတ်သည် (ဖြစ်ပျက်သမျှတို့ကိုလည်း) မြင်တော်မူ၏။ [၁]

فَأْتِيَاهُ فَقُولَآ إِنَّا رَسُولَا
رَبِّكَ فَأَرْسِلْ مَعَنَا بَنِيٓ
إِسْرَآءِيلَ ۖ وَلَا تُعَذِّبْهُمْ ۖ
قَدْ جِئْنَٰكَ بِـَٔايَةٍ مِّن رَّبِّكَ ۖ
وَالسَّلَٰمُ عَلَىٰ مَنِ اتَّبَعَ
الْهُدَىٰٓ ﴿٤٧﴾

၄၇။ သို့ဖြစ်ပေရာ အသင်တို့နှစ်ဦးသည် ယင်းဖစ်ရ်အောင်န်ထံသို့ သွားကြပြီးလျှင် (ဤသို့)ပြောကြားကြလေကုန်။ ဧကန်အမှန် ကျွန်ုပ်တို့သည် အသင်အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၏ ရစူလ်တမန်တော်နှစ်ပါးပင် ဖြစ်ကြပေသည်။ သို့ဖြစ်ပေရာ အသင်သည် အစ္စရာအီလီမျိုးနွယ်တို့အား ကျွန်ုပ်နှင့်အတူ ထည့်လိုက်လော့။ ထို့ပြင် အသင်သည် ၎င်းတို့အား ဒုက္ခမပေးလင့်။

ဧကန်မလွဲ ကျွန်ုပ်တို့သည် အသင့်အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ် အထံတော်မှ သက်သေလက္ခဏာတော်ကို ယူဆောင်လာ ခဲ့ကြပေသည်။ စင်စစ် ငြိမ်းချမ်းမှုသည် တရားလမ်းမှန်ကို လိုက်နာသူ၏အဖို့သာ ရှိပေသည်။

---

(၁) အလ္လာဟ်အရှင်မြတ်ထံတော်မှ တမန်တော်မူစာနှင့် တမန်တော်ဟာရူန်အား ဖစ်ရ်အောင်န်ထံသွားရောက်၍ တရားမမ္မဟောကြားရန် စေလွှတ်တော်မူသည့်အခါ၊ တမန်တော်မူစာနှင့် တမန်တော် ဟာရူန်တို့သည် မိမိတို့၏ အားအင်ချည့်နဲ့မှုနှင့် ဖစ်ရ်အောင်န်၏ အရှိန်အဝါကိုတွေးပြီး လူ့သဘာဝအလျောက် စိုးရိမ်ကာ အလ္လာဟ်အရှင်မြတ် ထံတော်၌ ဖစ်ရ်အောင်န်သည် ကျွန်တော်မျိုးတို့၏တရားကို နားမထောင်မီပင် ကျွန်တော်မျိုးတို့အား စတင် ဒုက္ခပေးကောင်း ပေးမည်၊ သို့မဟုတ် တရားနားထောင်ပြီးနောက် ယခင်ထက်ပင် ပိုမိုဆိုးသွမ်းလာကောင်း လာပေမည်၊ သို့ဖြစ်လျှင် မိမိတို့၏ရည်ရွယ်ချက် အောင်မြင်မည် မဟုတ်ကြောင်းဖြင့် မိမိတို့၏စိုးရိမ်ချက်များကို လျှောက်ထားရာ၊ အလ္လာဟ်အရှင်မြတ်က "မစိုးရိမ်ကြလင့်၊ ငါအရှင်မြတ်သည် အသင်တို့နှင့်အတူတကွ ရှိတော်မူသည်၊ အားလုံးသိတော်မူသည်၊ အားလုံးကြားတော်မူသည်"ဟု အားပေးစကား ပြောကြားတော်မူလိုက်လေသည်။ ➤➤

إِنَّا قَدْ أُوحِيَ إِلَيْنَا أَنَّ الْعَذَابَ عَلَىٰ مَن كَذَّبَ وَتَوَلَّىٰ ﴿٤٨﴾

၄၈။ ကေန်စင်စစ် ပြစ်ဒဏ်သည် အကြင်သူ၏ အပေါ်၌ပင် ကျရောက်မည် ဖြစ်ကြောင်း၊ အမှန်ပင် ကျွန်ုပ်တို့ထံ အမိန့်တော်ရောက်ရှိလာပြီးဖြစ်ပေသည်။ ထိုသူသည် (ကျွန်ုပ်တို့ ယူဆောင်လာခဲ့ကြသောအမိန့် ပညတ်တော်များကို) မဟုတ်မမှန်ဟူ၍ ငြင်းပယ်အံ့။ ၎င်းပြင် ထိုသူသည် (ယင်းအမိန့်ပညတ်တော်များမှ) မျက်နှာလွှဲဖယ် ကျောခိုင်းသွားအံ့။

قَالَ فَمَن رَّبُّكُمَا يَا مُوسَىٰ ﴿٤٩﴾

၄၉။ ထိုဖစ်ရ်အောင်န်က "သို့ဖြစ်လျှင် အို-မူစာ အသင်တို့ နှစ်ဦးအား ဖန်ဆင်းတော်မူသောအရှင်သည် မည်သူနည်း" ဟု ပြောဆို(မေးမြန်း)လေ၏။

قَالَ رَبُّنَا الَّذِي أَعْطَىٰ كُلَّ شَيْءٍ خَلْقَهُ ثُمَّ هَدَىٰ ﴿٥٠﴾

၅၀။ (ထိုအခါ) ထိုမူစာက ကျွန်ုပ်တို့အား ဖန်ဆင်း မွေးမြူတော်မူသော အရှင်သည် အသီးသီးသောအရာကို ယင်းအရာနှင့်ထိုက်သည့်အားလျော်စွာ ရုပ်ဆင်းသဏ္ဍာန်ကိုချီးမြှင့်တော်မူပြီးလျှင် (ဆောင်ရွက်အံ့သော) နည်းလမ်းကို ညွှန်ပြတော်မူသော အရှင်မြတ်သည်ပင်ဖြစ်တော်မူသည်ဟု ပြောကြားခဲ့လေသတည်း။ [၁]

---

➤➤ ရန်သူကို နှိမ်နင်းရန် ချီတက်သွားသော တပ်စိတ်အား စစ်သေနာပတိချုပ်က "မကြောက်နှင့်၊ ငါ၏တပ်မတော်ကြီး တစ်ခုလုံးသည် လက်နက်အင်အား အပြည့်အစုံနှင့် အသင်တို့အား စစ်ကူပေးရန် အသင့်ရှိသည်" ဟု ဆိုပါက ယင်းတပ်စိတ်သည် အဘယ်မျှစိတ်အား တက်သွားမည်ကို လူတိုင်းသိနိုင်ပေသည်။ စစ်သေနာပတိ၏ အားပေးစကားဖြင့် ဤမျှစိတ်အားတိုးတက်သွားလျှင် တန်ခိုးတော်အနန္တနှင့် ပြည့်စုံတော်မူသော အလ္လာဟ်အရှင်မြတ် ကိုယ်တော်တိုင်က ငါကိုယ်တော်တိုင် အသင်တို့နှင့်အတူတကွ ရှိတော်မူသည်ဟု မိန့်ဆိုတော်မူပါလျှင် တမန်တော်မူစာနှင့် တမန်တော်ဟာရူန်တို့၏ စိတ်ဓာတ်သည် အတိုင်းမသိ တိုးတက်ကြံ့ခိုင်သွားမည်မှာ အမှန်ပင်။

(၁) တမန်တော်မူစာနှင့် တမန်တော်ဟာရူန်သည် အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်အရ ဖစ်ရ်အောင်န်ထံ သွားရောက် တရားဓမ္မဟောညွှန်ပြကြသောအခါ ဖစ်ရ်အောင်န်က "အသင်တို့နှစ်ဦး၏ အရှင်သခင်ကား မည်သူပါနည်း" ဟုမေးရာ၊ တမန်တော်မူစာက "ကျွန်ုပ်တို့၏ အရှင်သခင်သည် အရာခပ်သိမ်းကုန်တို့ကို ဖန်ဆင်းတော်မူ၍ ၎င်းတို့နှင့် လျော်ကန်သင့်မြတ်သော ရုပ်ဆင်းသဏ္ဍာန်၊ စွမ်းရည်သတ္တိနှင့် လိုအပ်သောအရာများကို ချီးမြှင့်ပြီး ၎င်းတို့၏ ရပ်တည်ရေးနှင့် လိုရာပန်းတိုင်သို့ ရောက်ရှိနိုင်ရန်အတွက် နည်းလမ်းများကို ညွှန်ပြတော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူသည်" ဟု တိုတုပ်သိပ်သည်းစွာ ဖြေကြားခဲ့လေသည်။

**တစ်နည်း**

ထိုအခါ ထိုတမန်တော်မူစာက ကျွန်ုပ်တို့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်သည် အရာခပ်သိမ်းတို့ကို ၎င်းတို့နှင့် (လျော်ကန်သော)ရုပ်ဆင်းသဏ္ဌာန်ကို ချီးမြှင့်တော်မူပြီး (ကျိုး၊ ပြစ်၊ ဆိုး၊ ကောင်း) လမ်းညွှန်ပြတော်မူသောအရှင်မြတ်ပင် ဖြစ်တော်မူသည်ဟု ဖြေကြားခဲ့လေသည်။

قَالَ فَمَا بَالُ الْقُرُوْنِ الْأُوْلٰى ﴿٥١﴾

၅၁။ (တစ်ဖန်) ထိုဖစ်ရ်အောင်န်က "သို့ဖြစ်လျှင် ရှေးဟောင်းမျိုးနွယ်တို့၏ အခြေအနေသည် မည်သို့ရှိချေသနည်း" ဟု ပြောဆို(ပြန်)လေ၏။[၁]

قَالَ عِلْمُهَا عِنْدَ رَبِّيْ فِيْ كِتٰبٍ ۚ لَا يَضِلُّ رَبِّيْ وَلَا يَنْسَى ﴿٥٢﴾

၅၂။ ယင်းမူစာသည် (ဤသို့) ပြောကြားခဲ့၏။ ထိုရှေးဟောင်း မျိုးနွယ်တို့နှင့် ပတ်သက်သော အသိကား ကျွန်ုပ်အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်အထံတော်တွင် မှတ်တမ်းစာအုပ်၌ ရှိပေသည်။ (အမှန်စင်စစ်) ကျွန်ုပ်၏ အရှင်မြတ်သည် မှောက်မှားတော်မူသည်လည်း မဟုတ်ပေ။ မေ့လျော့တော်မူသည်လည်း မဟုတ်ချေ။

الَّذِيْ جَعَلَ لَكُمُ الْأَرْضَ مَهْدًا وَّسَلَكَ لَكُمْ فِيْهَا سُبُلًا وَّ اَنْزَلَ مِنَ السَّمَاءِ

၅၃။ (ထိုအရှင်မြတ်သည်) အကြင်အရှင်မြတ်ပင်။ ထိုအရှင်မြတ်သည်ပင် ပထဝီမြေကို အခင်းအကျင်းပြုလုပ်တော်မူခဲ့၏။ ၎င်းပြင် ထိုအရှင်မြတ်သည်ပင် ယင်းပထဝီမြေ၌ အသင်တို့အဖို့ လမ်းများကိုလည်း ပြုလုပ်တော်မူခဲ့၏။

---

(၁) တမန်တော်မူစာ၏ တရားဓမ္မတွင် တမန်တော်များ ယူဆောင်လာခဲ့ကြသော တရားဒေသနာတော်များကို သွေဖည် ငြင်းဆန် မနာခံသူများအပေါ်၌ ပြစ်ဒဏ်သက်ရောက်မည့် အကြောင်းကိုကြား၍ ဖစ်ရ်အောင်န်က အတိတ်ခေတ်များတွင်လည်း တမန်တော်များ၏ တရားဒေသနာတော်များကို သွေဖည်ငြင်းဆန် မနာခံသူများ ရှိခဲ့ကြပေမည်၊ ၎င်းတို့ မည်သို့ဖြစ်ခဲ့ကြသနည်း၊ ၎င်းတို့အားလုံး ပြစ်ဒဏ်သင့်၍ သေကြေပျက်စီးသွားခဲ့ကြလေသလော၊ ၎င်းတို့၏အကြောင်းကို ပြောပြပါဟုမေးရာ တမန်တော်မူစာက ဤအာယတ်တော်တွင် လာရှိသည့်အတိုင်း ဖြေကြားခဲ့လေသည်။

مَآءً فَأَخْرَجْنَا بِهِۦٓ أَزْوَٰجًا مِّن نَّبَاتٍ شَتَّىٰ ﴿٥٣﴾

ထို့ပြင်ငါအရှင်မြတ်သည်ပင် မိုးကောင်းကင်မှ မိုးရေကို ရွာသွန်းစေတော်မူခဲ့၏။ ထို့နောက် ငါအရှင်မြတ်သည်ပင် ထိုရေဖြင့် (အနံ့အရသာ) ကွဲပြားခြားနားသော ဟင်းသီးဟင်းရွက် အမျိုးမျိုးတို့ကို ပေါက်ရောက်စေတော်မူခဲ့၏။

كُلُوا۟ وَٱرْعَوْا۟ أَنْعَٰمَكُمْ ۗ إِنَّ فِى ذَٰلِكَ لَءَايَٰتٍ لِّأُو۟لِى ٱلنُّهَىٰ ﴿٥٤﴾

၅၄။ အသင်တို့သည် (မိမိတို့ကိုယ်တိုင်လည်း) စားသုံးကြလေကုန်။ ၎င်းပြင် မိမိတို့၏ခြေလေးချောင်း တိရစ္ဆာန်များကိုလည်း စားကျက်ချကြလေကုန်။ ကေန်စင်စစ် (ဤသည်တို့)တွင် ဉာဏ်ရှင်များအဖို့ သက်သေသာဓကများရှိကုန်၏။

مِنْهَا خَلَقْنَٰكُمْ وَفِيهَا نُعِيدُكُمْ وَمِنْهَا نُخْرِجُكُمْ تَارَةً أُخْرَىٰ ﴿٥٥﴾

၅၅။ ယင်းပထဝီမြေကြီးမှပင် ငါအရှင်မြတ်သည် အသင်တို့အား ဖန်ဆင်းတော်မူခဲ့လေသည်။ ၎င်းပြင် ယင်းပထဝီမြေကြီး၌ပင် ငါအရှင်မြတ်သည် (အသင်တို့အား တစ်ဖန်ပြန်လည်၍ ရောက်စေတော်မူပေမည်။ ထိုမှတစ်ပါး ယင်းပထဝီမြေကြီးမှပင် ငါအရှင်မြတ်သည် အသင်တို့အား ဒုတိယအကြိမ် ထွက်စေတော်မူအံ့သတည်း။

وَلَقَدْ أَرَيْنَٰهُ ءَايَٰتِنَا كُلَّهَا فَكَذَّبَ وَأَبَىٰ ﴿٥٦﴾

၅၆။ ၎င်းပြင် ကေန်စင်စစ် ငါအရှင်မြတ်သည် ယင်းဖစ်ရ်အောင်န်ကို (မူစာအား ချီးမြှင့်တော်မူသော) မိမိသက်သေလက္ခဏာတော် အလုံးစုံကို ပြသတော်မူခဲ့ပေသည်။ သို့ပါလျက် ၎င်းသည် (ယင်းသက်သေလက္ခဏာများကို) မဟုတ်မမှန် ဟူ၍ ဆိုခဲ့သည့်အပြင် (တစ်ဆူတည်းသောအလ္လာဟ်အရှင်မြတ်အား ယုံကြည်ရန်လည်း) ငြင်းဆိုခဲ့လေသည်။ [၁]

---

(၁) တမန်တော်မူစာသည် မိမိအား အလ္လာဟ်အရှင်မြတ်က ချီးမြှင့်ထားတော်မူသော လက်၊ တောင်ဝှေးစသည့် တန်ခိုးပြာဋိဟာအားလုံးကို ဖစ်ရ်အောင်န်အား အထင်အရှားပြသခဲ့ပေသည်။ သို့တစေလည်း ဖစ်ရ်အောင်န်သည် မောက်မာပလွှား၍ သွေဖည်ငြင်းဆန်ခဲ့လေသည်။

قَالَ أَجِئْتَنَا لِتُخْرِجَنَا مِنْ أَرْضِنَا بِسِحْرِكَ يَٰمُوسَىٰ ﴿٥٧﴾

၅၇။ (၎င်းပြင်) ယင်းဖစ်ရ်အောင်န်သည် (ဤသို့) ပြောဆိုခဲ့လေသည်။ အို-မူစာ အသင်သည် မိမိ စုန်း အတတ်ဖြင့် ကျွန်ုပ်တို့အား ကျွန်ုပ်တို့၏တိုင်းပြည် (အီဂျစ်)မှ နှင်ထုတ်ရန် လာခဲ့သလော။

فَلَنَأْتِيَنَّكَ بِسِحْرٍ مِّثْلِهِۦ فَٱجْعَلْ بَيْنَنَا وَبَيْنَكَ مَوْعِدًا لَّا نُخْلِفُهُۥ نَحْنُ وَلَآ أَنتَ مَكَانًا سُوًى ﴿٥٨﴾

၅၈။ သို့ဖြစ်လျှင် ကျွန်ုပ်တို့သည်လည်း အသင် နှင့်ယှဉ်ပြိုင်ရန် ယင်းကဲ့သို့သောစုန်းအတတ်ကိုပင် ယူဆောင်လာခဲ့ကြမည်။ သို့ဖြစ်ပေရာ အသင်သည် ညီညာသော ကွင်းပြင်တစ်ခု၌ (ပြိုင်ဆိုင်နိုင်ရန်) ကျွန်ုပ်တို့နှင့်မိမိအကြားဝယ် အချိန်တစ်ချိန်ကို ချိန်းဆို သတ်မှတ်လော့။ ထိုချိန်းဆိုသော အချိန်ကို ကျွန်ုပ်တို့ လည်း ပျက်ကွက်စေကြမည်မဟုတ်။ အသင်သည် လည်း မပျက်ကွက်လေနှင့်။

قَالَ مَوْعِدُكُمْ يَوْمُ ٱلزِّينَةِ وَأَن يُحْشَرَ ٱلنَّاسُ ضُحًى ﴿٥٩﴾

၅၉။ (ထိုအခါ) ယင်းမူစာက (အို-ဖစ်ရ်အောင်န်) အသင်တို့၏ ချိန်းဆိုသော(နေ့)သည် ပွဲနေ့ပင်ဖြစ် သည်။ ၎င်းပြင် လူတို့သည်(လည်း) နေတက်ချိန်၌ စုရုံးပြီး ဖြစ်ကြရမည်ဟုပြောကြားခဲ့လေသတည်း။ ၁

(၁) ဖစ်ရ်အောင်န်က မိမိ၏အမျိုးသားများအား တမန်တော်မူစာဘက်မှ စိတ်ကွက်သွားစေရန်အတွက် "မူစာသည် မိမိ၏စုန်းအတတ်ဖြင့် ပြည်သူလူထု၏စိတ်ကို ဆွဲဆောင်ပြီး ငါတို့ကို ငါတို့၏ အမိတိုင်းပြည်မှ နှင်ထုတ်လိုသည်၊ ငါတို့ အီဂျစ်တိုင်းရင်းသားများ၏ တိုက်တာဂေဟာ ဥစ္စာပစ္စည်းများကိုလည်း သိမ်းပိုက်လိုသည်၊ ပြီးနောက် ငါတို့၏ အမိတိုင်းပြည်တွင် မင်းလုပ်အုပ်ချုပ်လိုသည်" စသည်ဖြင့် လှုံ့ဆော်သွေးထိုးပေးခဲ့လေသည်။

ဖစ်ရ်အောင်န်က တမန်တော်မူစာအား အသင်သည် ဤနည်းဖြင့် အကြံမအောင်မြင်နိုင်ပေ။ အဘယ့်ကြောင့်ဆိုသော် ငါတို့တွင်လည်း စုန်းအတတ်ကျွမ်းကျင်သော ပါရဂူများ အမြောက်အမြားရှိကြပေသည်။ အသင်သည် ယင်းစုန်းကဝေများနှင့် ယှဉ်ပြိုင်ရမည်။ ယင်းသို့ ယှဉ်ပြိုင်နိုင်ရန်အတွက် နေ့ရက်၊ အချိန်၊ဌာနကို အသင်ပင် သတ်မှတ်ပါလေ၊ သတ်မှတ်ရာတွင် တိုင်းသူပြည်သား လူအများ တက်ရောက်ကြည့်ရှုနိုင်ရန်အတွက် ကျယ်ဝန်းညီညာသော ကွင်းပြင်ကြီးတစ်ခုကို ရွေးချယ်ပါလေ။ သတ်မှတ်ချိန်းဆိုချက်ကို နှစ်ဦးနှစ်ဖက် မပျက်ကွက် ရပေဟုဆိုရာ "ကွမ်းသီးကြိုက် တောင်ငူပို့" ဆိုသကဲ့သို့ တမန်တော်မူစာသည် ဝမ်းသာမဆုံးဖြစ်ပြီး "အလွန် သင့်ပါသည်၊ ယှဉ်ပြိုင်နိုင်ရန်အတွက် နေ့ရက်အဖြစ် အီဂျစ်လူမျိုးတို့၏ နှစ်ပတ်လည် ပွဲလမ်းသဘင်နေ့သည် အသင့်တော်ဆုံးနေ့ ဖြစ်ပါသည်။ အချိန်မှာ ညဥ့်မဟုတ်၊ နံနက်နေတက်ချိန်သည် အသင့်တော်ဆုံးဖြစ်ပါသည်။ ဌာနအဖြစ် ညီညာကျယ်ဝန်းသော (မိုင်ဒါန်) ကွင်းပြင်သည် အကောင်းဆုံးဖြစ်ပါသည်။ ထိုနေ့၊ ထိုရက်၊➢➢

فَتَوَلّٰى فِرْعَوْنُ فَجَمَعَ كَيْدَهٗ ثُمَّ اَتٰى ﴿٦٠﴾

၆၀။ ထိုအခါ ဖစ်ရ်အောင်န်သည် ပြန်သွားခဲ့ပေသည်။ တစ်ဖန် ၎င်းသည် မိမိလှို့ဝှက်ကြံစည်ချက်များကို စုဆောင်းပြီးနောက် (ချိန်းချက်ထားသောနေရာသို့) လာခဲ့လေသည်။ [၁]

قَالَ لَهُمْ مُّوْسٰى وَيْلَكُمْ لَا تَفْتَرُوْا عَلَى اللّٰهِ كَذِبًا فَيُسْحِتَكُمْ بِعَذَابٍ ۚ وَقَدْ خَابَ مَنِ افْتَرٰى ﴿٦١﴾

၆၁။ (ထိုအခါ) မူစာက ယင်းပဉ္စလက်ဆရာတို့အား (ဤသို့) ပြောကြားခဲ့လေသည်။ အသင်တို့ အကျိုးယုတ်ပါစေ။ အသင်တို့သည် အလ္လာဟ်အရှင်မြတ်အပေါ်၌ မုသားကို လီဆယ်စွပ်စွဲခြင်း မပြုကြကုန်လင့်။ သို့ပြုခဲ့ကြပါလျှင် ထိုအရှင်မြတ်သည် အသင်တို့အား ပြစ်ဒဏ်ပေးတော်မူခြင်းအားဖြင့် လုံးဝ ပျက်စီးစေတော်မူမည်။ အမှန်စင်စစ်သော်ကား လီဆယ်ဖန်တီးသူသည် မျှော်လင့်သည့်အတိုင်း အထမမြောက် အကြံမှောက်ခဲ့သည်သာ။

فَتَنَازَعُوْٓا اَمْرَهُمْ بَيْنَهُمْ وَاَسَرُّوا النَّجْوٰى ﴿٦٢﴾

၆၂။ ထို့နောက် ယင်းပဉ္စလက်ဆရာတို့သည် မိမိတို့အရေးကိစ္စနှင့်စပ်လျဉ်း၍ အချင်းချင်း ငြင်းခုံကွဲလွဲခဲ့ကြလေသည်။ ထို့နောက် ၎င်းတို့သည် တီးတိုးဆွေးနွေးခဲ့ကြပြန်သည်။

---

➤➤ ထိုအချိန်၊ ထိုကွင်းပြင်တွင် တိုင်းသူပြည်သားလူအများအတွက်လည်း လာရောက်ကြည့်ရှုရန် လွယ်ကူပါသည်” ဟု အဖြေပေးလိုက်လေသည်။

(၁) တမန်တော်မူစာက ဖစ်ရ်အောင်န်၏ ပဉ္စလက်ဆရာများနှင့် ယှဉ်ပြိုင်ရန် စိန်ခေါ်လိုက်သည့်အခါ ဖစ်ရ်အောင်န်က မိမိတိုင်းပြည်တွင်းရှိ ပဉ္စလက်ဆရာများကို ဆင့်ခေါ်ခြင်း၊ ၎င်းတို့အား မျှော်လင့်ချက်ပေးခြင်း၊ ယှဉ်ပြိုင်သည့်အခါ ပဉ္စလက်ဆရာများ အရေးရှုံးနိမ့်ခြင်း၊ ပဉ္စလက်ဆရာများသည် တန်ခိုးပြာဋိဟာကို မျက်ဝါးထင်ထင် တွေ့မြင်ကြသောအခါ အလ္လာဟ်အရှင်မြတ်အား ယုံကြည်လာခဲ့ခြင်း၊ ဖစ်ရ်အောင်န်က ပဉ္စလက်ဆရာတို့အား ကြုံးဝါးခြင်း၊ ပဉ္စလက်ဆရာများက ပြန်လည်ချေပပြောဆိုခြင်းများနှင့် စပ်လျဉ်း၍ ကုရ်အာန်(၇း၁၀၃-၁၂၆)တွင် လာရှိခဲ့ချေပြီ။ သက်ဆိုင်ရာ အောက်ခြေအမှတ်များကို ပြန်လည်ရှုပါကုန်။

قَالُوْٓا اِنْ هٰذٰنِ لَسٰحِرٰنِ يُرِيْدٰنِ اَنْ يُّخْرِجٰكُمْ مِّنْ اَرْضِكُمْ بِسِحْرِهِمَا وَيَذْهَبَا بِطَرِيْقَتِكُمُ الْمُثْلٰى ﴿٦٣﴾

၆၃။ (နောက်ဆုံးတွင် ဖစ်ရ်အောင်န်၏ ဘေးအန္တရာယ်ကို ကြောက်ရွံ့ကာ) ၎င်းတို့သည် (ဤသို့) ပြောဆို(ဆုံးဖြတ်)ခဲ့ကြကုန်၏။ ဧကန်စင်စစ် ဤ (မူစာနှင့်ဟာရူန်နှစ်ဦးတို့မှာ ပဉ္စလက်ဆရာနှစ်ဦးသာ ဖြစ်ကြကုန်၏။ ၎င်းတို့နှစ်ဦးသည် မိမိတို့၏ ပဉ္စလက်အတတ်ဖြင့် အသင်တို့အား အသင်တို့၏တိုင်းပြည်မှ နှင်ထုတ်ကြရန်လည်းကောင်း၊ အသင်တို့၏ ကောင်းမွန်မြင့်မြတ်လှစွာသော(ဘာသာအယူဝါဒ)ယဉ်ကျေးမှုကို ဖျက်ဆီးပစ်ကြရန်လည်းကောင်း၊ ကြံရွယ်ကြကုန်၏။

فَاَجْمِعُوْا كَيْدَكُمْ ثُمَّ ائْتُوْا صَفًّا ۚ وَقَدْ اَفْلَحَ الْيَوْمَ مَنِ اسْتَعْلٰى ﴿٦٤﴾

၆၄။ သို့ဖြစ်ပေရာ အသင်တို့သည် မိမိတို့၏ ကြံစည်ချက်များကို စုဆောင်းပြီးလျှင် စီတန်း၍လာကြလေကုန်။ အကြောင်းမူကား ယနေ့အနိုင်ရသောသူသည်သာလျှင် စင်စစ် အောင်မြင်မှုရရှိမည် ဖြစ်သောကြောင့်ပင်။

قَالُوْا يٰمُوْسٰٓى اِمَّآ اَنْ تُلْقِيَ وَاِمَّآ اَنْ نَّكُوْنَ اَوَّلَ مَنْ اَلْقٰى ﴿٦٥﴾

၆၅။ (ထို့နောက်) ယင်းပဉ္စလက်ဆရာတို့က အို–မူစာ၊ အသင်သည် (မိမိတောင်ဝှေးကို ဦးစွာ)ပစ်ချလော့။ သို့တည်းမဟုတ် ကျွန်ုပ်တို့သည်ပင် ဦးစွာပထမ (မိမိတို့၏ကြိုးများ၊ တုတ်ရှည်များကို)ပစ်ချကြမည်လောဟု ပြောဆိုခဲ့ကြလေသည်။

قَالَ بَلْ اَلْقُوْا ۚ فَاِذَا حِبَالُهُمْ وَعِصِيُّهُمْ يُخَيَّلُ اِلَيْهِ مِنْ سِحْرِهِمْ اَنَّهَا تَسْعٰى ﴿٦٦﴾

၆၆။ ယင်းမူစာက "ထိုသို့မဟုတ်၊ အသင်တို့ပင် (ဦးစွာ) ပစ်ချကြလော့"ဟု ပြောကြားခဲ့လေသည်။ ထိုအခါ ၎င်းတို့၏ပဉ္စလက်အတတ်ကြောင့် ထိုသူတို့၏ကြိုးများသည်လည်းကောင်း၊ ထိုသူတို့၏ တုတ်ရှည်များသည်လည်းကောင်း၊ ထိုမူစာ၏အမြင်၌ လှုပ်ရှားပြေးလွှားနေကြသည်ဟု ထင်ရလေသည်။

فَأَوْجَسَ فِي نَفْسِهِ خِيفَةً
مُّوسَىٰ ﴿٦٧﴾

၆၇။ သို့ဖြစ်ပေရာ မူစာသည် မိမိစိတ်ထဲတွင်
အနည်းငယ်မျှ စိုးရိမ်မိခဲ့လေသည်။

قُلْنَا لَا تَخَفْ إِنَّكَ أَنتَ
الْأَعْلَىٰ ﴿٦٨﴾

၆၈။ (ထိုအခါ) ငါအရှင်မြတ်က (မူစာအား ဤသို့)
မိန့်ကြားတော်မူခဲ့၏။ (အို-မူစာ) အသင်သည်
မကြောက်လေနှင့်၊ ဧကန်မလွဲ အသင်သည်သာလျှင်
အောင်နိုင်သူ ဖြစ်ပေမည်။

وَأَلْقِ مَا فِي يَمِينِكَ تَلْقَفْ
مَا صَنَعُوا ۖ إِنَّمَا صَنَعُوا كَيْدُ
سَاحِرٍ ۖ وَلَا يُفْلِحُ السَّاحِرُ
حَيْثُ أَتَىٰ ﴿٦٩﴾

၆၉။ ၎င်းအပြင် အသင်သည် မိမိလက်ယာလက်ထဲ
၌ရှိသော(တောင်ဝှေး)ကို ပစ်ချပါလေ။ ယင်း(တောင်
ဝှေး)သည် ထိုပဉ္စလက်ဆရာတို့ ကြံစည်ပြုလုပ်ထား
သည်တို့ကိုဝါးမျိုလိမ့်မည်။ စင်စစ် ၎င်းတို့ကြံစည်
ပြုလုပ်ခဲ့သမျှတို့သည် ပဉ္စလက်ဆရာ(တို့)၏ပရိယာယ်
မျှသာဖြစ်ချေသည်။ အမှန်စင်စစ် ပဉ္စလက်ဆရာဟူ
သည်မည်သည့်နေရာသို့ သွားခဲ့စေကာမူ အောင်မြင်
သည်ဟူ၍ကား မရှိချေ။

فَأُلْقِيَ السَّحَرَةُ سُجَّدًا قَالُوا
آمَنَّا بِرَبِّ هَارُونَ وَمُوسَىٰ ﴿٧٠﴾

၇၀။ ထို့နောက်သော်ကား ပဉ္စလက်ဆရာတို့သည်
စဂျဒဟ်၌ ကျသွားကာ ပျပ်ဝပ်ဦးချကာ ကျွန်ုပ်တို့
သည် နဗီတမန်တော်ဟာရူန်နှင့် (နဗီတမန်တော်)
မူစာတို့၏အရှင်မြတ်အား သက်ဝင် ယုံကြည်ခဲ့ပေပြီ
ဟု ပြောဆိုခဲ့ကြလေသည်။

قَالَ آمَنتُمْ لَهُ قَبْلَ أَنْ آذَنَ
لَكُمْ ۖ إِنَّهُ لَكَبِيرُكُمُ الَّذِي
عَلَّمَكُمُ السِّحْرَ ۖ فَلَأُقَطِّعَنَّ

၇၁။ (ထိုအခါ) ယင်းဖစ်ရ်အောင်န်က (ဤသို့)
ပြောဆို(ကြိမ်းမောင်း)ခဲ့လေ၏။ အသင်တို့သည် ကျွန်ုပ်
ခွင့်မပြုမီပင် ထိုမူစာအား ယုံကြည်ခဲ့ကြလေပြီ။
ဧကန်စင်စစ် ယင်းမူစာကား အသင်တို့အား ပဉ္စလက်
အတတ်ပညာကို သင်ကြားပေးခဲ့သော (အာစရိယ)
အကြီးအကဲပင် ဖြစ်၏။

اَيۡدِيَكُمۡ وَاَرۡجُلَكُمۡ مِّنۡ خِلَافٍ وَّلَاُوصَلِّبَنَّكُمۡ فِىۡ جُذُوۡعِ النَّخۡلِ وَلَتَعۡلَمُنَّ اَيُّنَاۤ اَشَدُّ عَذَابًا وَّاَبۡقٰى ﴿٧١﴾

သို့ဖြစ်ပေရာ ဧကန်အမှန် ကျွန်ုပ်သည် အသင်တို့၏ လက်များကိုလည်းကောင်း၊ ခြေများကိုလည်းကောင်း၊ (လက်ယာလက်ဝဲ)ဘက် လွဲဖြစ်တောက်မည် ဖြစ်သည်။ ၎င်းပြင် မလွဲဧကန် ကျွန်ုပ်သည် အသင်တို့အား စွန်ပလွံပင်များ၌ လက်ဝါးကပ်တိုင်တင်မည်။ (စွန်ပလွံပင်များ၌ ကား ကြက်မည်)ဖြစ်သည်။ ထိုမှတစ်ပါး အသင်တို့သည် ကျွန်ုပ်တို့အနက် မည်သူ၏ပြစ်ဒဏ်သည်ပို၍ ပြင်းထန်သည်ကိုလည်းကောင်း၊ ပို၍ကြာရှည် တည်မြဲသည်ကိုလည်းကောင်း၊ အမှန်ပင် သိရှိကြပေမည်။

قَالُوۡا لَنۡ نُّؤۡثِرَكَ عَلٰى مَا جَآءَنَا مِنَ الۡبَيِّنٰتِ وَالَّذِىۡ فَطَرَنَا فَاقۡضِ مَاۤ اَنۡتَ قَاضٍ‌ؕ اِنَّمَا تَقۡضِىۡ هٰذِهِ الۡحَيٰوةَ الدُّنۡيَا ﴿٧٢﴾

၇၂။ ထိုပဉ္စလက်ဆရာတို့က (ဤသို့)ပြောကြားခဲ့လေ၏။ (အို-ဖစ်ရ်အောင်န်) ကျွန်ုပ်တို့သည် အသင့်အား မိမိတို့ထံ ရောက်ရှိလာသော သက်သေသာဓကများထက်လည်းကောင်း၊ ကျွန်ုပ်တို့အား ဖန်ဆင်းတော်မူသောအရှင်မြတ်ထက်လည်းကောင်း၊ အလျှင်း နှစ်သက်ကြမည်မဟုတ်။ သို့ဖြစ်ပေရာအသင်သည် မိမိစီရင်ပြဋ္ဌာန်းလိုသည်ကို စီရင်ပြဋ္ဌာန်းပါလေ။ (စင်စစ်မှာမူကား) အသင်၏မျက်မှောက်လောကီဘဝ၌သာ စီရင်ပြဋ္ဌာန်းနိုင်မည် ဖြစ်သည်။

اِنَّاۤ اٰمَنَّا بِرَبِّنَا لِيَـغۡفِرَ لَنَا خَطٰيٰنَا وَمَاۤ اَكۡرَهۡتَنَا عَلَيۡهِ مِنَ السِّحۡرِ‌ؕ وَاللّٰهُ خَيۡرٌ وَّاَبۡقٰى ﴿٧٣﴾

၇၃။ ဧကန်မလွဲ ကျွန်ုပ်တို့သည် မိမိကို ဖန်ဆင်းတော်မူသောအရှင်မြတ်အားထိုအရှင်မြတ်သည် ကျွန်ုပ်တို့၏ပြစ်မှုများကိုလည်းကောင်း၊ ကျွန်ုပ်တို့အား ပဉ္စလက် အတတ်နှင့်စပ်လျဉ်း၍ အတင်းအကျပ် အသင်ပြုလုပ်စေခဲ့သည်ကိုလည်းကောင်း၊ ခွင့်လွှတ်ချမ်းသာပေးတော်မူပါရန် သက်ဝင်ယုံကြည်ခဲ့ကြချေပြီ။ စင်စစ်မှာမူကား အလ္လာဟ်အရှင်မြတ်သည်သာလျှင် အမွန်မြတ်ဆုံး၊ အမြဲဆုံး ဖြစ်တော်မူပေသည်။

إِنَّهُۥ مَن يَأْتِ رَبَّهُۥ مُجْرِمًا
فَإِنَّ لَهُۥ جَهَنَّمَ لَا يَمُوتُ
فِيهَا وَلَا يَحْيَىٰ ٧٤

၇၄။ ဧကန်စင်စစ် မည်သူမဆို မိမိအား ဖန်ဆင်း မွေးမြူတော်မူသောအရှင်မြတ်အထံတော်သို့ အပြစ်ရှိ သူအဖြစ်ရောက်ရှိပါလျှင် ဧကန်မလွဲ ထိုသူ၏အဖို့ ဂျဟန္နမ်ငရဲဘုံသည်သာလျှင် ရှိပေမည်။ ထိုသူသည် ယင်းငရဲဘုံ၌ အသက်သေဆုံးမည်လည်းမဟုတ်ပေ။ အသက်ရှင်မည်လည်း မဟုတ်ချေ။

وَمَن يَأْتِهِۦ مُؤْمِنًا قَدْ عَمِلَ
الصَّٰلِحَٰتِ فَأُولَٰٓئِكَ لَهُمُ
الدَّرَجَٰتُ الْعُلَىٰ ٧٥

၇၅။ သို့ရာတွင် အကြင်သူသည် ထိုအရှင်မြတ် အထံတော်သို့ ဧကန်အမှန် ကောင်းမြတ်သောအကျင့် သီလများကို ကျင့်မူဆောက်တည်ခဲ့သော မုအ်မင်န် သက်ဝင်ယုံကြည်သူအဖြစ် ရောက်ရှိလာသည်ရှိသော် ထိုကဲ့သို့သောသူတို့အဖို့ မြင့်မြတ်လှစွာသော အဆင့် အတန်းများသည် ရှိပေမည်။

جَنَّٰتُ عَدْنٍ تَجْرِي مِن
تَحْتِهَا الْأَنْهَٰرُ خَٰلِدِينَ
فِيهَا ۚ وَذَٰلِكَ جَزَآؤُا
مَن تَزَكَّىٰ ٧٦

၇၆။ (ဝါ)ထာဝစဉ်နေထိုင်ရမည့် ဥယျာဉ်များ ရှိပေမည်။ ယင်းဥယျာဉ်များ၏အောက်မှ စမ်းရေချောင်းများသည် စီးတွေလျက်ရှိကြပေမည်။ (၎င်းတို့သည်) ယင်းဥယျာဉ်များ၌ အမြဲနေထိုင်ကြရပေမည်။ စင်စစ် သော်ကား ဤသည် စင်ကြယ်သန့်ရှင်း အပြစ်ကင်း ခဲ့သောသူ၏အကျိုးပင်တည်း။

وَلَقَدْ أَوْحَيْنَآ إِلَىٰ مُوسَىٰٓ
أَنْ أَسْرِ بِعِبَادِي فَاضْرِبْ
لَهُمْ طَرِيقًا فِي الْبَحْرِ يَبَسًا لَّا
تَخَٰفُ دَرَكًا وَلَا تَخْشَىٰ ٧٧

၇၇။ ဧကန်စင်စစ် ငါအရှင်မြတ်သည် မူစာ၏ထံသို့ (ဤသို့)ဝဟ်ယ်အမိန့်တော် ထုတ်ပြန် ချမှတ်တော်မူခဲ့၏။ အသင်သည် ငါအရှင်မြတ်၏ကျွန်များကို ညဉ့်အချိန်၌ ခေါ်သွားပါလေ။ ထို့နောက် အသင်သည် ၎င်းတို့အဖို့ ပင်လယ်၌ သွေ့ခြောက်သော လမ်းကို ပြုလုပ်ပါလေ။ အသင်သည် (မိမိတို့အား ရန်သူများ) မှီလာကြမည်ကိုလည်း စိုးရိမ်ရမည်မဟုတ်၊ (မိမိတို့သည်ပင်လယ်၌နစ်မြုပ်သွားကြမည်ကိုလည်း) ကြောက်ရမည် မဟုတ်ပေ။

فَأَتْبَعَهُمْ فِرْعَوْنُ بِجُنُودِهِ فَغَشِيَهُم مِّنَ الْيَمِّ مَا غَشِيَهُمْ ﴿٧٨﴾

၇၈။ ထို့နောက် ဖစ်ရ်အောင်န်သည် မိမိ စစ်သည်ဗိုလ်ပါတို့နှင့်တကွ ၎င်းတို့၏နောက်မှ လိုက်လာခဲ့လေရာ၊ ပင်လယ်မှရေများသည် ၎င်းတို့အား လွှမ်းမိုး(နစ်မြုပ်စေ)ခဲ့လေသည်။ [၁]

وَأَضَلَّ فِرْعَوْنُ قَوْمَهُ وَمَا هَدَىٰ ﴿٧٩﴾

၇၉။ စင်စစ် ဖစ်ရ်အောင်န်သည် မိမိအမျိုးသားတို့အား တရားလမ်းမှန်ကိုမပြပဲ လမ်းမှားစေခဲ့လေသည်။

يَا بَنِي إِسْرَائِيلَ قَدْ أَنجَيْنَاكُم مِّنْ عَدُوِّكُمْ وَوَاعَدْنَاكُمْ جَانِبَ الطُّورِ الْأَيْمَنَ وَنَزَّلْنَا عَلَيْكُمُ الْمَنَّ وَالسَّلْوَىٰ ﴿٨٠﴾

၈၀။ အို-အစ္စရာအီလီမျိုးနွယ်အပေါင်းတို့၊ ဧကန်အမှန်၊ ငါအရှင်မြတ်သည် အသင်တို့အား အသင်တို့၏ရန်သူ(၏ဘေးအန္တရာယ်)မှ ကယ်တင်တော်မူခဲ့လေပြီ။ ၎င်းပြင် ငါအရှင်မြတ်သည် အသင်တို့အား (အသင်တို့၏) လက်ယာဘက်၌ရှိသော တူရ်မည်သောတောင်၏နံဘေး(သို့ လာကြရန်) ချိန်းချက်တော်မူခဲ့လေသည်။ ထိုမှတစ်ပါး ငါအရှင်မြတ်သည် အသင်တို့အပေါ်၌ မန္န(မုန့်ချိုတစ်မျိုး)ကိုလည်းကောင်း၊ စလ်ဝါ(ငုံးသတ္တဝါတစ်မျိုး)ကိုလည်းကောင်း၊ ချပေးသနားတော်မူခဲ့လေသည်။

---

(၁) ဖစ်ရ်အောင်နှင့်တကွ ဖစ်ရ်အောင်န်၏ ဘက်တော်သားများသည် တမန်တော်မူစာနှင့် ယှဉ်ပြိုင်ရာတွင် အရေးရှုံးနိမ့်သွားခဲ့ကြ၏။ ဖစ်ရ်အောင်န်၏ ပဉ္စလက်ဆရာများသည်လည်း အီမာန်ယုံကြည်လာခဲ့ကြ၏။ ထိုအခါ အစ္စရာအီလီ မျိုးနွယ်ဝင်များသည် အနည်းငယ် အရေးသာလာခဲ့ကြ၏။ တမန်တော်မူစာသည်လည်း နှစ်ပရိစ္ဆေဒ အတော်ကြာသည်အထိ အလ္လာဟ်အရှင်မြတ်၏ ထင်ရှားသော သက်သေလက္ခဏာတော်များပြကာ စကားကုန်ပြောခဲ့၏။ တရားကုန်ဟောခဲ့၏။ သို့တစေလည်း ဖစ်ရ်အောင်န်သည် အမှန်တရားကို လက်မခံခဲ့ပေ၊ အစ္စရာအီလီမျိုးနွယ်ဝင်တို့အားလည်း လွတ်လပ်စွာ သွားလိုရာသွားနိုင်ရန်အတွက် လွှတ်မပေးခဲ့ပေ။ ထိုအခါ အလ္လာဟ်အရှင်မြတ်သည် တမန်တော်မူစာအား အစ္စရာအီလီမျိုးနွယ်ဝင်များကို ခေါ်ဆောင်၍ အီဂျစ်ပြည်မှ ထွက်ခွာသွားရန် အမိန့်ပေးတော်မူရာ တမန်တော်မူစာသည် အမိန့်တော် ဦးထိပ်ရွက်ပန်ဆင်ကာ အစ္စရာအီလီမျိုးနွယ်ဝင်တို့အား ခေါ်ဆောင်၍ အီဂျစ်ပြည်မှ ထွက်ခွာလာခဲ့လေသည်။

တမန်တော်မူစာသည် မိမိ၏အမျိုးသားတို့အား ခေါ်ဆောင်၍ အီဂျစ်ပြည်မှ ထွက်ခွာလာခဲ့ရာ (Red Sea) ပင်လယ်နီကမ်းခြေသို့ ရောက်ရှိလာခဲ့၏။ ဖစ်ရ်အောင်န်သည်လည်း မိမိ လက်အောက်မှ တိမ်းရှောင်ထွက်ခွာသွားသော အစ္စရာအီလီ မျိုးနွယ်ဝင်တို့အား ပြန်လည်ဖမ်းဆီး အရေးယူရန်အတွက် မိမိ၏ ➤➤

كُلُوا مِن طَيِّبَاتِ مَا رَزَقْنَاكُمْ وَلَا تَطْغَوْا فِيهِ فَيَحِلَّ عَلَيْكُمْ غَضَبِي ۖ وَمَن يَحْلِلْ عَلَيْهِ غَضَبِي فَقَدْ هَوَىٰ ﴿٨١﴾

**၈၁။** အသင်တို့သည် ငါအရှင်မြတ်က အသင်တို့အား ချီးမြှင့်ပေးသနားတော်မူခဲ့သည့်စင်ကြယ်သန့်ရှင်းသော(စားဖွယ်များ)ကို စားသုံးကြလေကုန်။ သို့ရာတွင် အသင်တို့သည် ဤသည်နှင့်စပ်လျဉ်း၍ စည်းကမ်းမကျူးလွန်ကြကုန်လင့်။ သို့ကျူးလွန်ခဲ့သည်ရှိသော် ငါအရှင်မြတ်၏ အမျက်တော်သည် အသင်တို့၌ သက်ရောက်မည်ဖြစ်ပေသည်။ စင်စစ်မူကား မည်သူမဆို ငါအရှင်မြတ်၏အမျက်တော်သည် ထိုသူ၏အပေါ်၌ သက်ရောက်ခဲ့မူ ဧကန်မလွဲ ထိုသူသည် (ဂျဟန္နမ် ငရဲဘုံသို့) ကျသွားပေမည်။

وَإِنِّي لَغَفَّارٌ لِّمَن تَابَ وَآمَنَ وَعَمِلَ صَالِحًا ثُمَّ اهْتَدَىٰ ﴿٨٢﴾

**၈၂။** သို့ရာတွင် ဧကန်စင်စစ် ငါအရှင်မြတ်သည် အကြင်သူအား အမှန်စင်စစ် အလွန်တရာ ခွင့်လွှတ်တော်မူသောအရှင်မြတ်ပင်ဖြစ်တော်မူ၏။ ထိုသူသည် နောင်တတရား ရရှိခဲ့သည့်ပြင် (အလ္လာဟ်အရှင်မြတ်အားလည်း) သက်ဝင်ယုံကြည်ခဲ့ပေသည်။ ထိုမှတစ်ပါး ကောင်းမြတ်သောအကျင့်သီလများကိုလည်း ကျင့်မှုဆောက်တည်ခဲ့ပေသည်။ ထို့နောက် တရားလမ်းမှန်ပေါ်၌ တည်ရှိနေခဲ့၏။

وَمَا أَعْجَلَكَ عَن قَوْمِكَ يَا مُوسَىٰ ﴿٨٣﴾

**၈၃။** ၎င်းပြင် အို-မူစာ၊ မည်သည့်အရာသည် အသင့်အား မိမိအမျိုးသားတို့ထက် ဦးစွာလာရောက်စေခဲ့ပါသနည်း။

➤➤ စစ်သည်ဗိုလ်ပါတို့နှင့်တကွ ထက်ကြပ်မကွာ လိုက်ပါလာခဲ့၏။ ထိုအချိန်တွင် အစ္စရာအီလီ မျိုးနွယ်ဝင်များအဖို့ "ရှေ့တိုးထမ်းပိုး၊ နောက်ဆုတ်လှည်းတုတ်" ဆိုသကဲ့သို့ ရှေ့တိုးက ပင်လယ်နီတွင် နစ်မြုပ်သေကြရမည်ဖြစ်၏။ နောက်ဆုတ်က ဖစ်ရ်အောင်န်၏ စစ်သည်များလက်တွင် မရှုမလှ သေကြေပျက်စီးကြရမည် ဖြစ်၏။ ယင်းကဲ့သို့ အစ္စရာအီလီမျိုးနွယ်ဝင်များ ပိတ်မိပြီး ဆိုးရွားလှသည့်အဖြစ်နှင့် တွေ့ကြုံနေကြရသည့်အခါ၊ အလ္လာဟ်အရှင်မြတ်သည် ပင်လယ်ကိုခွဲ၍ လမ်းကြောင်းဖြစ်စေတော် မူခဲ့သည်။ တမန်တော်မူစာနှင့်တကွ အစ္စရာအီလီမျိုးနွယ်ဝင်တို့သည် ခလုတ်မထိ ဆူးမငြိဘဲ အေးချမ်းစွာ ပင်လယ်နီကိုဖြတ်ကျော်၍ လွတ်မြောက်လာခဲ့ကြပေသည်။ ဖစ်ရ်အောင်န်နှင့်တကွ ၎င်း၏စစ်သည်ဗိုလ်ပါတို့မှာမူ ပင်လယ်နီတွင် နစ်မြုပ်၍ မရှုမလှ သေကြေပျက်စီး၍ သွားခဲ့ကြလေသည်။

قَالَ هُمۡ أُولَآءِ عَلَىٰٓ أَثَرِي وَعَجِلۡتُ إِلَيۡكَ رَبِّ لِتَرۡضَىٰ ﴿٨٤﴾

၈၄။ ယင်းမူစာက (ဤသို့) လျှောက်ထားခဲ့လေသည်။ ၎င်းတို့သည်ဤမှာ ကျွန်တော်မျိုး၏နောက်၌ပင် လိုက်ပါခဲ့ကြပါသည်။ အို-ကျွန်တော်မျိုးအား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်၊ စင်စစ် ကျွန်တော်မျိုးသည်အရှင်မြတ်အထံတော်သို့ *အရှင်မြတ် ကျေနပ်တော်မူပါရန် အလျင်လာခဲ့ခြင်းပင် ဖြစ်ပါသည်။* [၁]

قَالَ فَإِنَّا قَدۡ فَتَنَّا قَوۡمَكَ مِنۢ بَعۡدِكَ وَأَضَلَّهُمُ ٱلسَّامِرِيُّ ﴿٨٥﴾

၈၅။ ထိုအရှင်မြတ်က (ဤသို့)မိန့်ကြားတော်မူခဲ့လေသည်။ (အို-မူစာ) ဧကန်စင်စစ် ငါအရှင်မြတ်သည် အသင်၏ နောက်ကွယ်တွင် အသင်၏ အမျိုးသားများအား စမ်းသပ်တော် မူခဲ့လေသည်။ "*စာမိရီ*" [၂] သည် ၎င်းတို့အား လမ်းမှားစေခဲ့လေပြီ။

---

(၁) အလ္လာဟ်အရှင်မြတ်သည် တမန်တော်မူစာအား တောင်ရာတက်ကျမ်းကို ချီးမြှင့်တော်မူရန်အလို့ငှာ 'တူရ်' တောင်သို့လာရန်၊ သို့လာရာတွင် မိမိ၏အမျိုးသားများအနက် အကြီးအကဲ(၇၀)ကိုလည်း ခေါ်ဆောင်လာရန် အမိန့်ပေးတော်မူခဲ့၏။ ထိုအခါ တမန်တော်မူစာသည် အကြီးအကဲ(၇၀)ကို ခေါ်ဆောင်၍ 'တူရ်' တောင်သို့ သွားခဲ့၏။ ကြည့်-ကုရ်အာန်(၇း၁၅၅)။

တမန်တော်မူစာသည် စိတ်အားထက်သန်စွာဖြင့် သွားခဲ့ရာ တူရ်တောင်သို့ မိမိ၏အကြီးအကဲများထက် ဦးစွာ တစ်ဦးတည်း ပထမရောက်ရှိလာခဲ့၏။ အကြီးအကဲများသည် နောက်တွင် ကျန်နေရစ်ခဲ့ကြ၏။ ထိုအခါ အလ္လာဟ်အရှင်မြတ်က ဤအာယတ်တော်တွင် လာရှိသည့်အတိုင်း ယင်းကဲ့သို့ အလျင်စလို ဦးစွာပထမ ရောက်ရှိလာခဲ့သည့် အကြောင်းနှင့်စပ်လျဉ်း၍ မေးမြန်းတော်မူရာ တမန်တော်မူစာက ကျွန်တော်မျိုး၏ အမျိုးသားများသည် ကျွန်တော်မျိုး၏နောက်မှ လာနေကြပါသည်၊ ကျွန်တော်မျိုး ယခုကဲ့သို့ အရှင်မြတ်အထံတော်သို့ အလျင်စလို ရောက်ရှိလာခြင်းမှာ အရှင်မြတ် နှစ်သက်ကျေနပ် တော်မူပါရန်အလို့ငှာ ဖြစ်ပါသည်ဟု လျှောက်ထားခဲ့လေသည်။ ကြည့်-ထာနဝီ။

ဤအကြောင်း ကုရ်အာန်(၇း၁၄၂-၁၄၇)တွင် ပါရှိသည်

(၂) **<u>စာမိရီ</u>။**

အစ္စရာအီလီမျိုးနွယ်ဝင်တို့အား နွားငယ်ပြုလုပ်၍ လမ်းလွဲမှားစေခဲ့သူမှာ 'စာမိရီ' ဖြစ်သည်။ ၎င်း၏အမည်ကို ကုရ်အာန်တွင် သုံးနေရာ၌ တွေ့ရှိရသည်။ ကြည့်-ကုရ်အာန်(၂၀း၈၅။ ၂၀း၈၇။ ၂၀း၉၅)။

အချို့က စာမိရီ၏အမည်မှာ "မူစာ"ဟူ၍ဖြစ်သည်ဟု ဆိုကြသည်။ အချို့ကစာမိရီသည် အစ္စရာအီလီမျိုးနွယ်တစ်ဦးဖြစ်သည်ဟု ဆိုကြသည်။ အချို့ကစာမိရီသည် (Copt)ဖြစ်သည်ဟု ဆိုကြသည်။ အသို့ပင် ဖြစ်စေကာမူ အများ အာလင်မ်ပညာရှင်တို့၏ ယူဆချက်မှာကား စာမိရီသည် အစ္စရာအီလီမျိုးနွယ်ဝင်တို့အား နည်းပရိယာယ်အမျိုးမျိုးဖြင့် လမ်းလွဲမှားစေလေ့ရှိခဲ့သော မုနာဖစ်က် တစ်ဦးဖြစ်သည်။

فَرَجَعَ مُوسَىٰٓ إِلَىٰ قَوۡمِهِۦ
غَضۡبَٰنَ أَسِفٗاۚ قَالَ يَٰقَوۡمِ
أَلَمۡ يَعِدۡكُمۡ رَبُّكُمۡ وَعۡدًا حَسَنًاۚ
أَفَطَالَ عَلَيۡكُمُ ٱلۡعَهۡدُ أَمۡ
أَرَدتُّمۡ أَن يَحِلَّ عَلَيۡكُمۡ
غَضَبٞ مِّن رَّبِّكُمۡ
فَأَخۡلَفۡتُم مَّوۡعِدِي ٨٦

**၈၆။** ထိုအခါ မူစာသည် မိမိအမျိုးသားတို့ထံ ဒေါသအမျက်ထွက်ကာ ဝမ်းနည်းပူဆွေးစွာ ပြန်လာခဲ့ပြီးလျှင် (ဤသို့)ပြောဆိုခဲ့လေသည်။ အို-ကျွန်ုပ်၏ အမျိုးသားတို့၊ အသင်တို့ကို ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်သည်အသင်တို့အား ကောင်းမြတ်လှစွာသော ကတိကိုပေးတော်မူခဲ့သည် မဟုတ်လော။

သို့ဖြစ်ပေရာ အသင်တို့အပေါ်၌ ချိန်းချက်ထားသောထိုအချိန်ကာလသည် ရှည်လျားကြာညောင်းခဲ့လေပြီလော။ သို့တည်းမဟုတ်အသင်တို့သည် မိမိတို့အပေါ်၌မိမိတို့အရှင်မြတ်၏ အမျက်တော်သက်ရောက်ခြင်းကို အလိုရှိသောကြောင့် ကျွန်ုပ်နှင့် ထားရှိပြီးဖြစ်သော ကတိကို ဖောက်ဖျက်ခဲ့ကြလေသလော။

قَالُواْ مَآ أَخۡلَفۡنَا مَوۡعِدَكَ بِمَلۡكِنَا
وَلَٰكِنَّا حُمِّلۡنَآ أَوۡزَارٗا مِّن زِينَةِ
ٱلۡقَوۡمِ فَقَذَفۡنَٰهَا فَكَذَٰلِكَ
أَلۡقَى ٱلسَّامِرِيُّ ٨٧

**၈၇။** (ထိုအခါ) ယင်းအမျိုးသားတို့က (ဤသို့) ပြောကြားခဲ့ကြကုန်၏။ (အို-နဗီတမန်တော်မူစာ၊ စင်စစ်) ကျွန်ုပ်တို့သည် အသင်နှင့်ထားရှိခဲ့သော ကတိကို မိမိတို့ အလိုသဘောနှင့် ဖောက်ဖျက်ခဲ့ကြသည်မဟုတ်။ သို့ရာတွင် ကျွန်ုပ်တို့မှာမူကား (ကစ်ဗ်တီ) အမျိုးသားတို့၏ လက်ဝတ်လက်စားများကို သယ်ပိုး ယူဆောင်လာခဲ့ကြရလေသည်။ သို့ဖြစ်ပေရာ ကျွန်ုပ်တို့သည် ယင်းလက်ဝတ်လက်စားများကို ပစ်ချခဲ့ကြပေသည်။ ထို့နောက် စာမိရီသည်လည်း ထိုနည်းအတိုင်းပင် ပစ်ချခဲ့လေသည်။

فَأَخۡرَجَ لَهُمۡ عِجۡلٗا جَسَدٗا لَّهُۥ
خُوَارٞ فَقَالُواْ هَٰذَآ إِلَٰهُكُمۡ وَإِلَٰهُ

**၈၈။** ထို့နောက် ယင်းစာမိရီသည် ၎င်းတို့အဖို့ အသံထွက်သော နွားငယ်ကလေး တစ်ကောင်၏ ခန္ဓာကိုယ် အသွင်သဏ္ဌာန်တစ်ခုကို (သွန်းလောင်း) ထုတ်ယူလာခဲ့လေသည်။

مُوسٰى ەۙ فَنَسِيَ ۸۸

(ထိုအခါ) ယင်းအမျိုးသားတို့က "ဤသည်ပင် အသင်တို့၏ ကိုးကွယ်ရာအရှင်၊ မူစာ၏ ကိုးကွယ်ရာအရှင်ဖြစ်သည်။ သို့သော် မူစာကား (မိမိ ကိုးကွယ်ရာအရှင်အား ဤမှာပင်)မေ့ထားခဲ့လေပြီ" ဟု (အချင်းချင်း) ပြောဆိုကြလေသည်။

أَفَلَا يَرَوْنَ أَلَّا يَرْجِعُ إِلَيْهِمْ قَوْلًا ەۙ وَّلَا يَمْلِكُ لَهُمْ ضَرًّا وَّلَا نَفْعًا ۸۹

၈၉။ အသို့ပါနည်း။ ယင်းနွားကလေးမှာ မိမိတို့၏ မည်သည့်စကားကိုမျှ ပြန်ကြားနိုင်ခြင်းလည်း မရှိကြောင်း၊ မိမိတို့နှင့်ပတ်သက်၍ မည်သို့မျှပင် အကျိုးယုတ်စေခြင်း၊ အကျိုးဖြစ်ထွန်းစေခြင်းကိုလည်း ပြုစွမ်းနိုင်ခြင်းမရှိသည်ကို ၎င်းတို့မမြင်ကြလေသလော။

وَلَقَدْ قَالَ لَهُمْ هٰرُوْنُ مِنْ قَبْلُ يٰقَوْمِ إِنَّمَا فُتِنْتُمْ بِهٖ ۚ وَإِنَّ رَبَّكُمُ الرَّحْمٰنُ فَاتَّبِعُوْنِيْ وَأَطِيْعُوْٓا أَمْرِيْ ۹۰

၉၀။ အမှန်စင်စစ်သော်ကား ဟာရူန်က (မူစာ) ပြန်မရောက်မီကပင်ယင်းအမျိုးသားတို့အား(ဤသို့) ပြောဆို (သတိပေး)ခဲ့လေသည်။ "အို-ကျွန်ုပ်၏ အမျိုးသားတို့၊ ဧကန်စင်စစ် အသင်တို့သည် ဤနွားရုပ်ကြောင့် လမ်းမှားခဲ့ကြရချေပြီ။ အမှန်စင်စစ်မှာမူကား အသင်တို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်သည် "ရဟ်မာန်" အနန္တကရုဏာတော်ရှင် သာတည်း။ သို့ဖြစ်ပေရာ အသင်တို့သည် ကျွန်ုပ်၏နောက်သို့ လိုက်ခဲ့ကြလေကုန်။ ၎င်းပြင် အသင်တို့သည် ကျွန်ုပ်၏အမိန့်ကို လိုက်နာကြလေကုန်။

قَالُوْا لَنْ نَّبْرَحَ عَلَيْهِ عٰكِفِيْنَ حَتّٰى يَرْجِعَ إِلَيْنَا مُوْسٰى ۹۱

၉၁။ (ထိုအခါ) ယင်းအမျိုးသားတို့က ကျွန်ုပ်တို့သည် မိမိတို့ထံ မူစာ ပြန်မလာသမျှကာလပတ်လုံး ယင်းနွားရုပ်အပေါ်၌ အမြဲမပြတ် စွဲလမ်းလျက်ပင် ရှိကြမည် ဟု ပြောကြားခဲ့ကြ၏။ [၁]

---

(၁) **တမန်တော်ဟာရူန်က အချိန်မီသတိပေးခဲ့ခြင်း။**

တမန်တော်မူစာ တူရ်တောင်သို့ ကြွသွားနေခိုက် စာမိရီ၏လှည့်ဖြားမှုကြောင့် အစ္စရာအီလီ ➤➤

قَالَ يٰهٰرُوْنُ مَا مَنَعَكَ اِذْ رَاَيْتَهُمْ ضَلُّوْٓا ﴿٩٢﴾

၉၂။ (ထို့နောက်) ယင်းမူစာသည် (ပြန်လာပြီးလျှင် ဟာရူန်အား) အို-ဟာရူန် အသင်သည် ၎င်းတို့ လမ်းမှားခဲ့ကြသည်ကို တွေ့မြင်ခဲ့သောအခါ၊

اَلَّا تَتَّبِعَنِ ؕ اَفَعَصَيْتَ اَمْرِيْ ﴿٩٣﴾

၉၃။ အသင်အား ကျွန်ုပ်ထံ လိုက်လာခြင်းမှ မည်သည့်အရာက တားဆီးခဲ့ဘိသနည်း။ အသင်သည် ကျွန်ုပ်၏အမိန့်ကို ဖီဆန်ခဲ့လေသလောဟု ပြောကြားခဲ့လေ၏။

قَالَ يَبْنَؤُمَّ لَا تَاْخُذْ بِلِحْيَتِيْ وَلَا بِرَاْسِيْ ۚ اِنِّيْ خَشِيْتُ اَنْ تَقُوْلَ فَرَّقْتَ بَيْنَ بَنِيْٓ اِسْرَآءِيْلَ وَلَمْ تَرْقُبْ قَوْلِيْ ﴿٩٤﴾

၉၄။ (ထိုအခါ) ယင်းဟာရူန်က (ဤသို့) ပြောဆို (ဖြေကြား)ခဲ့၏။ အို-ကျွန်ုပ်၏မိခင်၏သား၊ အသင်သည် ကျွန်ုပ်၏မုတ်ဆိတ်ကိုလည်းကောင်း၊ ကျွန်ုပ်၏ဦးခေါင်းကိုလည်းကောင်း၊ ဆွဲကိုင်ခြင်း မပြုပါလေနှင့်။ ကေန်မလွဲ ကျွန်ုပ်မှုကား၊ အသင်သည် ကျွန်ုပ် (ပြောဆိုအံ့သော)စကားကို စောင့်ဆိုင်း(၍ နားထောင်)ခြင်းမရှိဘဲ (အို-ဟာရူန်) အသင်သည် အစ္စရာအီလီမျိုးနွယ်တို့ အချင်းချင်း သွေးကွဲအောင်ပြုခဲ့သည်ဟု ပြောဆိုမည်ကို စိုးရိမ်မိခဲ့သည်။

---

➤➤ မျိုးနွယ်ဝင်များသည် နွားရုပ်ကို ကိုးကွယ်ကြသောအခါ တမန်တော်ဟာရူန်က "အို-ငါ၏အမျိုးသားများ၊ အသင်တို့သည် နွားရုပ်နှင့်စပ်လျဉ်း၍ လမ်းလွဲမှားကုန်ကြပြီ၊ ဤနွားရုပ်သည် ကိုးကွယ်ရာ အရှင်သခင်မဟုတ်၊ အသင်တို့၏ ကိုးကွယ်ရာအရှင်သခင် အစစ်အမှန်သည် "ရဟ်မာန်" မဟာကရုဏာတော်ရှင်တည်းဟူသော အလ္လာဟ်အရှင်မြတ် သာလျှင် ဖြစ်တော်မူသည်။ ထိုအရှင်မြတ်သည် အသင်တို့အပေါ်၌ မြောက်မြားစွာသော ကရုဏာတော်များကိုလည်း ပြုတော်မူခဲ့ပေပြီ၊ နောင်ကိုလည်း ကရုဏာပြုရန် ကတိပြုထားတော်မူသည်။ သို့ပါလျက် ထိုသည့် အရှင်သခင်အား စွန့်ပယ်ပြီး အသင်တို့သည် အဘယ်သို့သွား နေကြသလော။

ငါသည် တမန်တော်မူစာ၏ ကိုယ်စားလှယ်ဖြစ်သည်၊ မိမိကိုယ်တိုင်လည်း တမန်တော်တစ်ပါးဖြစ်သည်၊ ငါ၏စကားကို နားထောင်ကြ၊ ငါ၏လမ်းစဉ်ကို လိုက်နာကြ၊ စာမိရီ၏ ကျော့ကွင်းထဲသို့ မဆင်းကြနှင့်" ဟု ကျိုးကြောင်းပြကာ အမှတ်တရ အချိန်မီ သတိပေးခဲ့လေသည်။ သို့တစေလည်း အစ္စရာအီလီမျိုးနွယ်ဝင်များ အနက် နွားရုပ်ကို ကိုးကွယ်နေကြသူများက "ကျွန်တော်တို့သည် တမန်တော်မူစာ ပြန်လာသည်အထိ ဤနွားရုပ်ကို စွန့်ပယ်ကြမည်မဟုတ်၊ စွဲမြဲစွာ စွဲလမ်းလျက်ပင် ရှိနေကြမည်၊ တမန်တော်မူစာ ပြန်ကြွလာသောအခါ သင့်တော်သည့်အတိုင်း ပြုလုပ်ကြပါမည်ဟု မိုက်မဲစွာ အဖြေပေးခဲ့ကြလေသည်။

၉၅။ ထိုမူစာက 'သို့ဖြစ်လျှင်၊ အို-စာမိရီ အသင်၏ ရည်ရွယ်ချက်ကား အသို့နည်း"ဟု ပြောဆို (မေးမြန်း) ခဲ့လေသည်။

قَالَ فَمَا خَطْبُكَ يَٰسَامِرِيُّ ﴿٩٥﴾

၉၆။ (ထိုအခါ) ၎င်းစာမိရီက "ကျွန်ုပ်သည် အခြားသူတို့ မမြင်ခဲ့ကြသောအရာကို တွေ့မြင်ခဲ့ပါသည်။ သို့ဖြစ်ပေရာ ကျွန်ုပ်သည် စေတမန်၏ (မြင်း) ခြေရာမှ(မြေကြီး) လက်တစ်ဆုပ်ကို ဆုပ်ယူခဲ့ပါသည်။ ထို့နောက် ကျွန်ုပ်သည် ထို(မြေကြီး)ကို (ဤနွားငယ် ကလေး၏ခန္ဓာကိုယ်တွင်) ပစ်ထည့်ခဲ့ပါသည်။ စင်စစ် ကျွန်ုပ်၏စိတ်နှလုံးသည် ကျွန်ုပ်အား ဤအတိုင်း ပင် ဖြားယောင်းခဲ့ပါသည်"ဟု ပြောဆို (ဖြေကြား) လေ၏။ ၁

قَالَ بَصُرْتُ بِمَا لَمْ يَبْصُرُوا بِهِۦ فَقَبَضْتُ قَبْضَةً مِّنْ أَثَرِ ٱلرَّسُولِ فَنَبَذْتُهَا وَكَذَٰلِكَ سَوَّلَتْ لِى نَفْسِى ﴿٩٦﴾

၉၇။ (သို့ဖြစ်ပေရာ) ယင်းမူစာက (စာမိရီအား ဤသို့) ပြောကြားခဲ့လေ၏။ (အို-စာမိရီ) အသင် သည်ထွက်သွားလော့။ ဧကန်အမှန် အသင်၌ ဤဘဝ သက်တမ်းတစ်လျှောက်တွင် (ခံစားရမည့် ပြစ်ဒဏ် ကား) အသင်သည် (မိမိအပါးသို့ ချဉ်းကပ်လာသူတို့ ကို ကျွန်ုပ်အား မည်သူမျှ) 'မထိရ' ဟု ပြောဆိုခြင်း ပင်ဖြစ်ပေသည်။ ၎င်းပြင် အသင့်အဖို့ (နောင်တမလွန် ၌ ပြစ်ဒဏ်ခံစားရန်လည်း) ပြဋ္ဌာန်းချက်တစ်ခု ရှိ သေး၏။ အသင်သည် ယင်းပြဋ္ဌာန်းချက်မှ လွဲစေခြင်း ကို အလျှင်း ခံရလိမ့်မည် မဟုတ်ပေ။

قَالَ فَٱذْهَبْ فَإِنَّ لَكَ فِى ٱلْحَيَوٰةِ أَن تَقُولَ لَا مِسَاسَ وَإِنَّ لَكَ مَوْعِدًا لَّن تُخْلَفَهُۥ وَٱنظُرْ إِلَىٰٓ إِلَٰهِكَ ٱلَّذِى ظَلْتَ عَلَيْهِ عَاكِفًا لَّنُحَرِّقَنَّهُۥ ثُمَّ لَنَنسِفَنَّهُۥ فِى ٱلْيَمِّ نَسْفًا ﴿٩٧﴾

---

(၁) **တမန်တော်မူစာက စာမိရီအား စစ်ဆေးအရေးယူခြင်း။**

တမန်တော်မူစာသည် နောင်တော်ကြီး တမန်တော်ဟာရူန်နှင့် တွေ့ဆုံ စကားပြောဆိုပြီးနောက် စာမိရီအား "စာမိရီ၊ အသင်သည် မည်သို့ပြုသနည်း၊ ဖြစ်ရပ်မှန်ကို ပြောပြလော့" ဟု စစ်ဆေးကြိမ်းမောင်းရာ၊ စာမိရီက "ကျွန်တော်သည် အခြားသူများ မမြင်သောအရာကို မြင်မိပါသည်- (ဝါ) မြင်းစီးလျက်ရှိသော ကောင်းကင်တမန်ဂျိဗ်ရီလ်အား မြင်မိပါသည်။ ထိုအခါ ကျွန်တော်သည် ကောင်းကင်တမန်ဂျိဗ်ရီလ်၏ မြင်းခြေရာမှ မြေတစ်ဆုပ် ကောက်ယူထားခဲ့ပါသည်။ ထိုသည့်မြေကိုပင် ဤနွားရုပ်တွင် ထည့်လိုက်ပါသည်။ ➤➤

ထို့ပြင်အသင်သည် အစဉ်မပြတ်စွဲလမ်းလျက် ရှိခဲ့သော မိမိ ကိုးကွယ်ရာကို ရှုလော့။ ဧကန်မလွဲ ငါတို့သည် ၎င်းအား မီးချပြီးနောက် အမှုန်စင်စစ် ၎င်း(၏ပြာ)ကို မြစ်ထဲ၌ ကြဲ(၍ မျှော)ကြမည် ဖြစ်သည်။

إِنَّمَآ إِلَٰهُكُمُ ٱللَّهُ ٱلَّذِى لَآ إِلَٰهَ إِلَّا هُوَ ۚ وَسِعَ كُلَّ شَىْءٍ عِلْمًا ﴿٩٨﴾

၉၈။ (စင်စစ်မှာမူကား)အသင်တို့၏ ခဝပ်ကိုးကွယ်ရာ အရှင်သည် အကြင် အလ္လာဟ်အရှင်မြတ်ပင် ဖြစ်တော်မူ၏။ ထိုအရှင်မြတ်မှတစ်ပါး ခဝပ်ကိုးကွယ်ရာအရှင်ဟူ၍ကား အလျှင်း မရှိပြီ။ ထိုအရှင်မြတ်သည် (မိမိ)အသိပညာတော်ဖြင့် အရာခပ်သိမ်းတို့ကို လွှမ်းခြုံလျက် ရှိတော်မူပေသတည်း။

كَذَٰلِكَ نَقُصُّ عَلَيْكَ مِنْ أَنۢبَآءِ مَا قَدْ سَبَقَ ۚ وَقَدْ ءَاتَيْنَٰكَ مِن لَّدُنَّا ذِكْرًا ﴿٩٩﴾

၉၉။ ယင်းကဲ့သို့ပင် ငါအရှင်မြတ်သည် အသင်၏ ရှေ့ဝယ် *လွန်လေပြီးသောဖြစ်စဉ်များ၏ အကြောင်း သတင်းများကို ပြန်ပြောင်းမိန့်ကြားတော်မူသည်။* [၁] ၎င်းပြင် ငါအရှင်မြတ်သည် အသင်အား မိမိအထံတော်မှ (ကုရ်အာန်တည်းဟူသော) သတိပေးနှိုးဆော်သည့် ကျမ်းဂန်တစ်စောင်ကို ချီးမြှင့် ပေးသနားတော်မူခဲ့လေသည်။

➤➤ ဤသည် ကျွန်တော်၏စိတ်၌ စေ့ဆော်ဖြားယောင်းမှုပင်ဖြစ်ပါသည်” ဟု အစစ်ခံခဲ့လေသည်။

**(၁) အလ္လာဟ်အရှင်မြတ်သည် တမန်တော်မြတ်အား အတိတ်ဖြစ်စဉ်များကို ပြောပြတော်မူခြင်း။**

အလ္လာဟ်အရှင်မြတ်သည် တမန်တော်မြတ်အား မူစာနှင့် ဖစ်ရ်အောင်န်တို့၏အကြောင်းကို ပြောပြတော်မူသကဲ့သို့ အတိတ်ခေတ် မြောက်မြားစွာသော ဖြစ်စဉ်ဖြစ်ရပ်များကိုလည်း ပြောပြတော်မူသည်၊ တမန်တော်မြတ်မှတစ်ဆင့် ကမ္ဘာ့အဝှန်းသို့ ပြောကြားစေတော်မူသည်။ ယင်းသို့ ပြောပြတော်မူသည့်အတွက် အကျိုးများလှပေသည်။

ဥပမာ....ယင်းသို့ ပြောပြတော်မူသည့်အတွက် လူသားတို့သည် မိမိတို့ မသိသော အတိတ်ခေတ် ဖြစ်စဉ်ဖြစ်ရပ်များကို သိကြရပေသည်၊ အသိဉာဏ်ကြွယ်ဝလာပေမည်။ များစွာသော မုအ်ဂျိဇဟ် တန်ခိုးပြာဋိဟာများကိုလည်း သိကြရလေသည်။

ယင်းသည့်အကြောင်းများကို ကြားသိ၍ တမန်တော်မြတ်နှင့်တကွ တမန်တော်မြတ်၏အမိန့်များကို နာခံသော မွတ်စ်လင်မ်များသည် စိတ်ချမ်းသာကြရပေသည်။ အမြော်အမြင် ဆင်ခြင်တုံတရားရှိသော ပုဂ္ဂိုလ်များသည် ဆင်ခြင်နိုင်ကြပေသည်။ သွေဖည်ရေးသမား တို့သည်လည်း အချိန်မီ သတိတရား ရနိုင်ကြပေသည်။

مَّنْ أَعْرَضَ عَنْهُ فَإِنَّهُۥ يَحْمِلُ
يَوْمَ ٱلْقِيَٰمَةِ وِزْرًا ١٠٠

၁၀၀။ မည်သူမဆို ယင်း(ကျမ်းတော်)မှ မျက်နှာလွှဲခဲ့ပါမူ ကေန်မလွဲ ထိုသူသည် ကိယာမတ် ရှင်ပြန်ထရမည့်နေ့တွင် (အလွန်လေးလံသော) ဝန်ထုပ်ကို သယ်ပိုးထမ်းဆောင်ရမည် ဖြစ်ပေသည်။

خَٰلِدِينَ فِيهِ ۖ وَسَآءَ لَهُمْ يَوْمَ
ٱلْقِيَٰمَةِ حِمْلًا ١٠١

၁၀၁။ (ထိုသူတို့သည်)ယင်း(ဝန်ထုပ်ကို ထမ်းဆောင်သယ်ပိုးခြင်း၏)အဖြစ်၌ ထာဝစဉ် ခံစားလျက် ရှိကြပေမည်။ စင်စစ် ထို ဝန်ထုပ်သည် ၎င်းတို့အဖို့ ကိယာမတ် ရှင်ပြန်ထရမည့်နေ့တွင် အလွန်ဆိုးရွားလှသော ဝန်ထုပ်ပင် ဖြစ်ချိမ့်မည်။

يَوْمَ يُنفَخُ فِى ٱلصُّورِ ۚ وَنَحْشُرُ
ٱلْمُجْرِمِينَ يَوْمَئِذٍ زُرْقًا ١٠٢

၁၀၂။ အကြင်နေ့တွင် တံပိုးခရာကို မှုတ်ပေမည်။ ၎င်းပြင် ငါအရှင်မြတ်သည် ထိုနေ့တွင် အပြစ်ရှိသူတို့အား မျက်စိကန်းသူများအဖြစ်စုရုံးစေတော်မူမည်။

يَتَخَٰفَتُونَ بَيْنَهُمْ إِن لَّبِثْتُمْ
إِلَّا عَشْرًا ١٠٣

၁၀၃။ (ထိုနေ့တွင်) ၎င်းတို့သည် မိမိတို့အချင်းချင်း "အသင်တို့သည် သင်္ချိုင်းများတွင် ဆယ်ရက်မျှသာ နေခဲ့ကြသည်" ဟု တီးတိုးပြောဆိုကြပေမည်။

نَّحْنُ أَعْلَمُ بِمَا يَقُولُونَ إِذْ
يَقُولُ أَمْثَلُهُمْ طَرِيقَةً إِن
لَّبِثْتُمْ إِلَّا يَوْمًا ١٠٤

၁၀၄။ ငါအရှင်မြတ်သည် ၎င်းတို့ပြောဆိုကြသည့်(အကြောင်း)ကို ကောင်းမွန်စွာ သိတော်မူသောအရှင်ဖြစ်တော်မူပေသည်။ အကြင်အခါဝယ် ၎င်းတို့အနက် အကြံဉာဏ်အားဖြင့် အတော်ဆုံးသောသူက "အသင်တို့သည် (သင်္ချိုင်းများတွင်) တစ်ရက်မျှသာ နေခဲ့ကြသည်"ဟု ပြောဆိုအံ့သတည်း။

وَيَسْـَٔلُونَكَ عَنِ ٱلْجِبَالِ فَقُلْ
يَنسِفُهَا رَبِّى نَسْفًا ١٠٥

၁၀၅။ ၎င်းပြင် ထို(မက္ကာမြို့သားမိစ္ဆာဝါဒီ)တို့သည် အသင်အား တောင်များနှင့်စပ်လျဉ်း၍ (မည်သို့မည်ပုံဖြစ်မည်ကို) မေးမြန်းကြကုန်၏။ အသင်သည် (၎င်းတို့အား ဤသို့)ပြောဆို (ဖြေကြား)ပါလေ။ (အချင်း

တို့၊) ငါ့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်သည် ယင်းတောင်များကို (အစိတ်စိတ် အပိုင်းပိုင်း ဖြစ်စေ၍) လွင့်ပါးစေတော်မူမည် ဖြစ်ပေသည်။

فَيَذَرُهَا قَاعًا صَفْصَفًا ١٠٦

**၁၀၆။** တစ်ဖန်ထိုအရှင်မြတ်သည် ယင်း (ပထဝီမြေ) ကို ညီညာသော လွင်ပြင်အဖြစ် ကျန်ရစ်စေတော်မူမည် ဖြစ်ချေသည်။

لَّا تَرَىٰ فِيهَا عِوَجًا وَلَا أَمْتًا ١٠٧

**၁၀၇။** အသင်သည် ထို(ပထဝီမြေ)၌ မည်သည့် ချိုင့်ဝှမ်းကိုမျှလည်းကောင်း၊ မည်သည့် ကုန်းကိုမျှ လည်းကောင်း၊ တွေ့မြင်လိမ့်မည်မဟုတ်ပေ။

يَوْمَئِذٍ يَتَّبِعُونَ الدَّاعِيَ لَا عِوَجَ لَهُ وَخَشَعَتِ الْأَصْوَاتُ لِلرَّحْمَٰنِ فَلَا تَسْمَعُ إِلَّا هَمْسًا ١٠٨

**၁၀၈။** ထိုနေ့တွင် လူတို့သည် ဆင့်ခေါ်သူ၏နောက်သို့ ကွေ့ကောက်ခြင်းမရှိဘဲ (ဖြောင့်တန်းစွာ) လိုက်ကြပေမည်။ ၎င်းပြင် “ရဟ်မာန်”အနန္တကရုဏာတော်ရှင်၏ရှေ့တော်မှောက်ဝယ် (၎င်းတို့၏) အသံများမှာ ငြိမ်ဆိမ်၍ သွားကြပေမည်။ သို့ဖြစ်ပေရာ အသင်သည် (တိုးတိုးပြောဆိုချက်) ခြေသံမှတစ်ပါး မည်သည့် အသံကိုမျှ ကြားလိမ့်မည် မဟုတ်ပေ။

يَوْمَئِذٍ لَّا تَنفَعُ الشَّفَاعَةُ إِلَّا مَنْ أَذِنَ لَهُ الرَّحْمَٰنُ وَرَضِيَ لَهُ قَوْلًا ١٠٩

**၁၀၉။** ထိုနေ့တွင် ကြားဝင် အသနားခံခြင်းသည် အကြင်သူမှတစ်ပါး (မည်သူတစ်ဦးတစ်ယောက်အဖို့မျှပင်) အကျိုးပေးလိမ့်မည်မဟုတ်ပေ။ ထိုသူနှင့်ပတ်သက်၍ “ရဟ်မာန်” အနန္တကရုဏာတော်ရှင်သည် ခွင့်ပြုတော်မူခဲ့လေသည်။ ၎င်းပြင် ထိုအရှင်မြတ်သည် ၎င်း၏စကား တစ်စုံတစ်ရာကို နှစ်သက်တော်မူခဲ့လေသည်။ [၁]

(၁) **ကိယာမတ်နေ့၏ဖြစ်အင်။**

အထက်တွင် ကိယာမတ်အကြောင်း ပါရှိခဲ့၏။ ထို့အတွက် ကိယာမတ်ဖြစ်မည်ကို မယုံကြည်သော သူများက “ကိယာမတ်နေ့တွင် ထုထည်အလွန်ကြီးမားသော တောင်ကြီးများသည် အသို့ဖြစ်သွားမည်နည်း၊ ဤသည့် တောင်ကြီးများသည်လည်း ကွဲအက်ပြိုပျက်သွားမည်လော”ဟု ပြက်ချော်သည့်သဘောဖြင့် ➢➢

يَعۡلَمُ مَا بَيۡنَ أَيۡدِيهِمۡ وَمَا خَلۡفَهُمۡ وَلَا يُحِيطُونَ بِهِۦ عِلۡمٗا ﴿١١٠﴾

၁၁၀။ ထိုအရှင်မြတ်သည်၎င်းတို့၏ရှေ့နောက် အဖြစ်အပျက် (အကြောင်းကိစ္စ)အလုံးစုံတို့ကို (အကြွင်းမဲ့) သိရှိတော်မူ၏။ သို့ရာတွင်၎င်းတို့မူကား ထိုအရှင်မြတ် (သိတော်မူသော ယင်း အကြောင်းကိစ္စများ)ကို (မိမိတို့၏) အသိပညာဖြင့် ဝန်းခြံ(၍ သိ)နိုင်ကြသည် မဟုတ်ပေ။

۞وَعَنَتِ ٱلۡوُجُوهُ لِلۡحَيِّ ٱلۡقَيُّومِۖ وَقَدۡ خَابَ مَنۡ حَمَلَ ظُلۡمٗا ﴿١١١﴾

၁၁၁။ ထို့ပြင် (ထိုနေ့တွင်လူခပ်သိမ်းတို့၏) မျက်နှာများမှာ ထာဝရရှင်နေတော်မူသော၊ အစဉ်အမြဲ တည်ရှိနေတော်မူသောအရှင်မြတ်၏ ရှေ့တော်မှောက်ဝယ် အောက်ကျို့လျက် ရှိကြပေမည်။ ၎င်းပြင် ဇော်မလွဲ မတရားမှုကို (ကျူးလွန်) ထမ်းဆောင်ခဲ့သောသူမှာမူကား အထမမြောက် အကြံမှောက်မည်သာတည်း။

➤➤ မေးမြန်းကြသောအခါ ဤအာယတ်တော်တွင် လာရှိသည့်အတိုင်း ဖြေကြားတော်မူသည်မှာ အလ္လာဟ် အရှင်မြတ်၏ အတိုင်းအဆမရှိသော တန်ခိုးတော်အနန္တရှေ့တွင် တောင်များသည်လည်း အသို့မျှ ရပ်တည်နိုင်မည် မဟုတ်ပေ။ ကြေမွ၍ ဝါဂွမ်းများပမာ လွင့်ပါးသွားပေမည်။ ကမ္ဘာမြေကြီးသည် ညီညာသောကွင်းပြင်ကြီးအတိ ဖြစ်သွားပေမည်။ အနိမ့်၊ အမြင့်၊ အကောက်အကွေ့၊ အရွဲ့အစောင်း ဟူ၍ စိုးစဉ်းမျှ ရှိမည်မဟုတ်ပေ။

လူသားအားလုံးတို့သည်လည်း ကိယာမတ်နေ့တွင် ကောင်းကင်တမန် ခေါ်ဆောင်ရာသို့ ဖြောင့်မတ်စွာ လိုက်ကြပေမည်။ ခေါ်ဆောင်သော ကောင်းကင်တမန်လည်း ဖြောင့်မတ်ပေမည်၊ လိုက်နာသူများလည်း ဖြောင့်မတ်ကြပေမည်။ ရှေ့သွားနောက်လိုက် ညီကြပေမည်။ (လူသားတို့သည် ကိယာမတ်နေ့တွင် ကောင်းကင်တမန် ခေါ်ဆောင်ရာသို့ ဖြောင့်မတ်စွာ လိုက်နာကြမည် ဖြစ်သကဲ့သို့ ဤပစ္စက္ခတွင်လည်း အလ္လာဟ်အရှင်မြတ်၏ တမန်တော်များ၏ ဖိတ်ခေါ်ရာသို့ မသွေမဖည်ဘဲ ဖြောင့်မတ်စွာ လိုက်နာကြပါက နောင်တမလွန်တွင် ၎င်းတို့၌ မုချအကျိုးရှိမည်ဖြစ်သည်။ ကြိုတင်သိမြင်နိုင်ကြပါက ကောင်း၏)။

ကိယာမတ်နေ့တွင် လူသားတို့သည် 'မဟ်ရှရ်' ကွင်းပြင်သို့ သွားရောက်ကြသောအခါ အလ္လာဟ် အရှင်မြတ်အား ကြောက်ရွံ့ကြမည် ဖြစ်သည့်အတွက် ခြေသံမှတစ်ပါး မည်သည့်အသံကိုမျှ ကြားကြရမည် မဟုတ်ပေ၊ လုံးဝဆိတ်ငြိမ်လျက် ရှိကြပေမည်။

ကိယာမတ်နေ့တွင် မည်သူတစ်ဦးတစ်ယောက်မျှ အလ္လာဟ်အရှင်မြတ်၏ ခွင့်ပြုချက်မရရှိဘဲ မည်သူ့အတွက်မျှ အသနားခံပေးနိုင်မည် မဟုတ်ပေ။ အလ္လာဟ်အရှင်မြတ်၏ ခွင့်ပြုချက်ရရှိသော ပုဂ္ဂိုလ်များသာလျှင် အသနားခံခွင့် ရရှိပေမည်၊ ထိုပုဂ္ဂိုလ်များသည်လည်း အကြင်သို့သောသူ အတွက်သာလျှင် အသနားခံ ပေးနိုင်ကြမည် ဖြစ်သည်၊ ထိုသူ၏စကား(ဝါ) (လာအိလာဟ အစ်လ္လလ္လာဟ်)ကို အလ္လာဟ်အရှင်မြတ် ကျေနပ် နှစ်သက်တော်မူပြီး ဖြစ်ခဲ့ပေသည်။ ကာဖိရ်နှင့်ပတ်သက်၍ကား အသနားခံခွင့် အလျှင်းရှိမည်မဟုတ်ပေ။

وَمَنْ يَّعْمَلْ مِنَ الصّٰلِحٰتِ وَهُوَ مُؤْمِنٌ فَلَا يَخٰفُ ظُلْمًا وَّلَا هَضْمًا ﴿١١٢﴾

**၁၁၂။** သို့ရာတွင် အကြင်သူသည် ကောင်းမြတ်သော အကျင့်သီလများကို ကျင့်မူဆောက်တည်ရုံမျှမက ထိုသူသည် မုအ်မင်န် သက်ဝင်ယုံကြည်သူလည်းဖြစ်ခဲ့မူ၊ ထိုသူကား မတရားမှုကိုလည်းကောင်း၊ လျော့နည်းစေခြင်းကိုလည်းကောင်း၊ စိုးရိမ်ရမည် မဟုတ်ချေတကား။

وَكَذٰلِكَ اَنْزَلْنٰهُ قُرْاٰنًا عَرَبِيًّا وَّصَرَّفْنَا فِيْهِ مِنَ الْوَعِيْدِ لَعَلَّهُمْ يَتَّقُوْنَ اَوْ يُحْدِثُ لَهُمْ ذِكْرًا ﴿١١٣﴾

**၁၁၃။** စင်စစ် ဤနည်းအတိုင်းပင် ငါအရှင်မြတ်သည် ယင်း(ကျမ်းဂန်)ကို စကားပြေပြစ် ကောင်းမွန်လှသော ကုရ်အာန်ကျမ်းတော်မြတ်အဖြစ် ချပေးသနားတော်မူခဲ့လေသည်။ ၎င်းပြင် ငါအရှင်မြတ်သည် ယင်းကုရ်အာန်ကျမ်းတော်မြတ်တွင် ခြိမ်းခြောက်မှုများကို အနည်းနည်း အဖုံဖုံ မိန့်ကြားတော်မူခဲ့လေသည်။ သို့မှသာလျှင် ၎င်းတို့သည် ကြောက်ရွံ့ကြပေမည်။ သို့တည်းမဟုတ် ယင်းကုရ်အာန်ကျမ်းတော်မြတ်သည် ၎င်းတို့၌ (အသိတရား) သတိတရားကို ဖြစ်ပေါ်စေမည်ဖြစ်ပေသည်။ [၁]

فَتَعٰلَى اللّٰهُ الْمَلِكُ الْحَقُّ ۚ وَلَا تَعْجَلْ بِالْقُرْاٰنِ مِنْ

**၁၁၄။** သို့ဖြစ်ပေရာ စိုးမိုးအုပ်ချုပ်တော်မူသော(ဘုရင်) အစစ်အမှန်ဖြစ်တော်မူသော အလ္လာဟ်အရှင်မြတ်သည် မြင့်မြတ်လှတော်မူ၏။

(၁) အလ္လာဟ်အရှင်မြတ်သည် ကိယာမတ်နေ့တွင် ဖြစ်ပေါ်လာမည့် အဖြစ်အပျက်များနှင့် ကောင်းမှု၊ မကောင်းမှု၏ အကျိုးအပြစ်များကို ပွင့်လင်းစွာ ဟောကြားထားတော်မူခဲ့သည့်အတိုင်း ကုရ်အာန်ကျမ်းမြတ်ကိုလည်း အရဗီစာပေဖြင့် စာပေဂုဏ်မြောက်စွာ အထင်အရှား ထုတ်ပြန်ချမှတ်ထားတော်မူသည်။ ထိုသည့် ကုရ်အာန်ကျမ်းမြတ်တွင် ကြောက်မက်ဖွယ်ရာများကိုလည်း အမျိုးမျိုးအဖုံဖုံ မိန့်ဆိုထားတော်မူသည်။ ယင်းသို့ ကုရ်အာန်ကျမ်းမြတ်ကို ထုတ်ပြန်ချမှတ်တော် မူခြင်းအားဖြင့် ကုရ်အာန်ကျမ်းမြတ်ကို ကြားနာရွတ်ဖတ် သရဇ္ဈာယ်သောသူများသည် 'တက်ဝါ' တရားကို ဆောက်တည်ကြပေမည်၊ အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ရိုသေ ခန့်ညားလာကြပေမည်။ ယုတ်စွအဆုံး ဆင်ခြင်မှု၊ သတိတရား၊ အသိတရား ရရှိလာကြပေမည်။ ဤသည့် သတိတရားသည် တဖြည်းဖြည်း တိုးပွားရင့်ကျက်လာပြီး နောက်ဆုံးတွင် အစ္စလာမ်၏ အမှန်တရားရစေရန် အကြောင်းဖြစ်လာပေမည်။ ဤကား ကုရ်အာန်၏အကျိုးတည်း။

قَبْلِ اَنْ يُّقْضٰٓى اِلَيْكَ وَحْيُهٗ ۡ وَقُلْ رَّبِّ زِدْنِىْ عِلْمًا ﴿١١٤﴾

ထို့ပြင်အသင်သည် မိမိထံသို့ ထိုအရှင်မြတ်၏ “ဝဟ်ယ်” အမိန့်တော်ပြီးဆုံးသည်အထိ မကျရောက်မီ ကုရ်အာန်ကျမ်းတော်မြတ်(ကို ရွတ်ဖတ်သရဇ္ဈာယ်ရာ)၌ အလျင်စလို မပြုလေနှင့်။ ၎င်းပြင် အသင်သည် “အို-ကျွန်တော်မျိုးအား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၊ အရှင်မြတ်သည် ကျွန်တော်မျိုး၌ အသိပညာကို တိုးပွားစေတော်မူပါ” ဟု လျှောက်ထား(အသနားခံ)ပါလေ။ [၁]

وَلَقَدْ عَهِدْنَآ اِلٰٓى اٰدَمَ مِنْ قَبْلُ فَنَسِىَ وَلَمْ نَجِدْ لَهٗ عَزْمًا ﴿١١٥﴾

**၁၁၅။** ၎င်းပြင် ဧကန်မလွဲ ငါအရှင်မြတ်သည် အာဒမ်၏ထံသို့ အမိန့်တော်ထုတ်ပြန် ချမှတ်တော်မူခဲ့လေသည်။ သို့ရာတွင်ထိုအာဒမ်သည် (ယင်းအမိန့်တော်ကို) မေ့လျော့ခဲ့လေသည်။ စင်စစ် ငါအရှင်မြတ်သည် ယင်းအာဒမ်၌တည်ကြည်ကြံ့ခိုင်မှုကို တွေ့တော်မမူခဲ့ချေ။ [၂]

---

(၁) အလ္လာဟ်အရှင်မြတ်သည် ဤအာယတ်တော်တွင် တမန်တော်မြတ်အား ကုရ်အာန်ကျမ်းလာ အာယတ်တော်များကို ကောင်းကင်တမန် ဂျိဗ်ရီလ်ထံမှတစ်ဆင့် ကျက်မှတ်ရာတွင် မေ့ပျောက်သွားမည်ကို စိုးရိမ်ကာ အလျင်စလို မပြုလုပ်ရန်၊ အလျင်စလိုပြုလုပ်မည့်အစား ကုရ်အာန်ကျမ်းမြတ်ကို ပိုမို သိရှိနားလည် သဘောပေါက်နိုင်သည့် အသိပညာကို ချီးမြှင့်ပေးသနားတော်မူပါမည့်အကြောင်း ဆုပန်ကြားရန် မိန့်ဆို ထားတော်မူသည်။

ကုရ်အာန်ကျမ်းမြတ်(၇၅း၁၆-၁၉)တွင်လည်း တမန်တော်မြတ်အား ကုရ်အာန်ကျမ်းလာ အာယတ်တော်များကို ကျက်မှတ်ရာတွင် အလျင်စလိုမပြုလုပ်ရန်နှင့် ကုရ်အာန်ကျမ်းမြတ်ကို ထိန်းသိမ်းစောင့်ရှောက်ခြင်း၊ ကုရ်အာန်ကျမ်းလာ ဒေသနာတော်များကို ကမ္ဘာတစ်ဝှန်းသို့ ဖြန့်ချီခြင်းများသည် အလ္လာဟ်အရှင်မြတ်၏ တာဝန်ဖြစ်ကြောင်း မိန့်ဆိုထားတော်မူသည်။

အလျင်စလိုပြုလုပ်မိပါက မှားတတ်ကြောင်းကို ဖခင်ကြီးအာဒမ်အား စံထား၍ ရှေ့လာလတ္တံ့သော အာယတ်တော်တွင် မိန့်ဆိုထားတော်မူသည်။

(၂) ( وَلَمْ نَجِدْ لَهٗ عَزْمًا ) ဟူသော ဝါကျတော်၏ အဓိပ္ပါယ်ကို အများက ဤကုရ်အာန် ဘာသာပြန်တွင် ပါရှိသည့်အတိုင်း ဘာသာပြန်ဆိုကြသည်။ အချို့ကမူ “ငါအရှင်မြတ်သည် ယင်းအာဒမ်၌ ရည်စူးချက်ကိုပင် မတွေ့ရှိရပေ” ဟု ဘာသာပြန်ဆိုကြသည်။ ဆိုလိုသည်ကား ဖခင်ကြီးအာဒမ်သည် ပြစ်မှုကျူးလွန်ရန် မည်သို့မျှပင် မရည်စူးခဲ့ပေ၊ သတိမမူမိခဲ့သည့်အတွက် ယင်းသို့ မှားယွင်းပြုမိခဲ့ခြင်းသာဖြစ်သည်ဟူ၍။ ကြည့်-မာရိဗ်ဒီ။

وَإِذْ قُلْنَا لِلْمَلَٰٓئِكَةِ اسْجُدُوا
لِآدَمَ فَسَجَدُوٓا إِلَّآ إِبْلِيسَ
أَبَىٰ ﴿١١٦﴾

၁၁၆။ (ပြန်လည်အောက်မေ့ သတိရကြလေကုန်)။ တစ်ရံရောအခါဝယ် ငါအရှင်မြတ်သည် မလာအိကဟ် ကောင်းကင်တမန်များအား အသင်တို့သည် အာဒမ်၏ ရှေ့ဝယ် စဂျ်ဒဟ် ပျပ်ဝပ်ဦးချကြလေကုန်ဟု မိန့်ကြားတော်မူခဲ့ရာ အီဗ်လီစ်မှတပါး ကောင်းကင်တမန် အပေါင်းတို့သည် ပျပ်ဝပ်ဦးချခဲ့ကြလေသည်။ ယင်း အီဗ်လီစ်မှာမူကား (ပျပ်ဝပ်ဦးချခြင်းမပြုဘဲ အမိန့်တော်ကို) သွေဖည် ငြင်းပယ်ခဲ့လေသည်။

فَقُلْنَا يَٰٓـَٔادَمُ إِنَّ هَٰذَا عَدُوٌّ لَّكَ
وَلِزَوْجِكَ فَلَا يُخْرِجَنَّكُمَا
مِنَ الْجَنَّةِ فَتَشْقَىٰٓ ﴿١١٧﴾

၁၁၇။ ထိုအခါငါအရှင်မြတ်သည် (ဤသို့) မိန့်ကြားတော်မူခဲ့၏။ အို-အာဒမ်၊ ဤ(အီဗ်လီစ်)ကား အသင်နှင့် အသင့်ခင်ပွန်း၏ ရန်သူပင်ဖြစ်ချေသည်။ သို့ဖြစ်ပေရာ ယင်းအီဗ်လီစ်သည်အသင်တို့နှစ်ဦးအား ဂျန္နတ် အမတ သုခဘုံမှနှင်မထုတ်စေနှင့်။ သို့ဖြစ်ခဲ့မူ အသင်သည် အကြောင်းမလှဖြစ်မည်သာ။

إِنَّ لَكَ أَلَّا تَجُوعَ فِيهَا
وَلَا تَعْرَىٰ ﴿١١٨﴾

၁၁၈။ ဧကန်အမှန် အသင်၌ ယင်းဂျန္နတ် အမတ သုခဘုံတွင် ဆာလောင်ခြင်းလည်း ရှိလိမ့်မည် မဟုတ်ပေ။ ၎င်းပြင် အသင်သည် အဝတ်အချည်းစည်း ဖြစ်ရလိမ့်မည်လည်း မဟုတ်ချေ။

وَأَنَّكَ لَا تَظْمَؤُا فِيهَا وَلَا تَضْحَىٰ ﴿١١٩﴾

၁၁၉။ ထို့ပြင် ဧကန်စင်စစ် အသင်သည် ယင်းသုခဘုံ၌ ရေမွတ်သိပ်မည်လည်းမဟုတ်ပေ။ ထို့ပြင် အသင်သည် နေပူခံရမည်လည်း မဟုတ်ချေ။

فَوَسْوَسَ إِلَيْهِ الشَّيْطَٰنُ قَالَ
يَٰٓـَٔادَمُ هَلْ أَدُلُّكَ عَلَىٰ شَجَرَةِ

၁၂၀။ ထို့နောက် ရှိုင်တွာန်မိစ္ဆာကောင်သည် ယင်း အာဒမ်၏ စိတ်တွင်းဝယ် သွေးဆောင်ဖြားယောင်းခဲ့လေသည်။ ၎င်းက(အာဒမ်အား)အို-အာဒမ်၊ ကျွန်ုပ်သည် အသင့်အား အစဉ်အမြဲရှင်နေသော သစ်ပင်ကို

الْخُلْدِ وَمُلْكٍ لَّا يَبْلَىٰ ﴿١٢٠﴾

လည်းကောင်း၊ ဟောင်းမြင်းဆွေးမြည့်ခြင်းမရှိသော စိုးမိုးအုပ်ချုပ်မှု(အာဏာ)ကိုလည်းကောင်း၊ ညွှန်ပြရမည်လော ဟု ပြောဆိုခဲ့လေ၏။

فَأَكَلَا مِنْهَا فَبَدَتْ لَهُمَا سَوْآتُهُمَا وَطَفِقَا يَخْصِفَانِ عَلَيْهِمَا مِن وَرَقِ الْجَنَّةِ ۚ وَعَصَىٰ آدَمُ رَبَّهُ فَغَوَىٰ ﴿١٢١﴾

၁၂၁။ သို့ဖြစ်ပေရာ ၎င်းတို့(ဇနီးမောင်နှံ)နှစ်ဦးသည် ထိုသစ်ပင်မှ (အသီးကို)စားသုံးခဲ့ကြလေ၏။ ထိုအခါ ၎င်းတို့(ဇနီးမောင်နှံ)နှစ်ဦး၏ (ဖုံးအုပ်လျက်ရှိသော) အရှက်များသည် ၎င်းတို့ရှေ့ဝယ် ပေါ်၍သွားခဲ့လေသည်။ ထို့နောက် ၎င်းတို့နှစ်ဦးသည် မိမိတို့(ကိုယ်)ကို ဂျန္နတ်အမတသုခဘုံမှသစ်ရွက်များဖြင့် ဖုံးအုပ်ခြင်းကို စတင်ပြုလုပ်ခဲ့ကြလေသည်။ စင်စစ် အာဒမ်သည် မိမိအား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်(၏ အမိန့်တော်)ကို ဆန့်ကျင်မိခဲ့လေရာ လမ်းမှန်မှ လွဲခဲ့ရလေသည်။

ثُمَّ اجْتَبَاهُ رَبُّهُ فَتَابَ عَلَيْهِ وَهَدَىٰ ﴿١٢٢﴾

၁၂၂။ ထို့နောက် ယင်းအာဒမ်အား ၎င်းကို ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်သည် ရွေးချယ်တော်မူခဲ့လေရာ၊ ထိုအရှင်မြတ်သည် ၎င်း၏ဘက်သို့ ကရုဏာတော်နှင့် ပြန်လှည့်တော်မူ(၍ ၎င်း၏တောင်းပန်ချက်ကို သဘောတူ လက်ခံတော်မူ)ခဲ့လေသည်။ ထို့ပြင် တရားလမ်းမှန်ကိုလည်းပြတော်မူခဲ့လေသည်။

قَالَ اهْبِطَا مِنْهَا جَمِيعًا ۖ بَعْضُكُمْ لِبَعْضٍ عَدُوٌّ ۖ فَإِمَّا يَأْتِيَنَّكُم مِّنِّي هُدًى فَمَنِ اتَّبَعَ هُدَايَ فَلَا يَضِلُّ

၁၂၃။ ထိုအရှင်မြတ်က (ဤသို့)မိန့်ကြားတော်မူခဲ့၏။ အသင်တို့နှစ်ဦးသည် ယင်းဂျန္နတ် အမတသုခဘုံမှ ဆင်းသွားကြလေကုန်။ အသင်တို့(၏ သားသမီးများ) အနက် တစ်ဦးသည် တစ်ဦး၏ ရန်သူပင်ဖြစ်ပေမည်။ ထို့နောက် အကယ်၍ အသင်တို့ထံ ငါအရှင်မြတ်အထံတော်မှ တစ်စုံတစ်ရာ တရားလမ်းညွှန် ရောက်ရှိလာသောအခါ မည်သူမဆို ငါအရှင်မြတ်၏ တရား

وَلَا يَشْقَىٰ ﴿١٢٣﴾

လမ်းညွှန်အတိုင်း လိုက်နာခဲ့မှု ထိုသူသည် လမ်းမှား လိမ့်မည်လည်းမဟုတ်ပေ။ အထမမြောက်အကြံမှောက် မည်လည်း မဟုတ်ချေ။

وَمَنْ أَعْرَضَ عَن ذِكْرِي فَإِنَّ لَهُ مَعِيشَةً ضَنكًا وَنَحْشُرُهُ يَوْمَ الْقِيَامَةِ أَعْمَىٰ ﴿١٢٤﴾

၁၂၄။ သို့ရာတွင် မည်သူမဆို ငါအရှင်မြတ်၏ တရားဒေသနာတော်မှ မျက်နှာလွှဲခဲ့မူ ဧကန်မလွဲ ထိုသူ၌ *ကျပ်တည်းသော အသက်မွေးမြူမှုရှိပေမည်။*[၁] ထို့ပြင် ငါအရှင်မြတ်သည် ၎င်းအား ကိယာမတ်နေ့တွင် မျက်ကန်းအဖြစ် ရှင်ပြန်ထစေတော်မူမည်ဖြစ်သည်။

قَالَ رَبِّ لِمَ حَشَرْتَنِي أَعْمَىٰ وَقَدْ كُنتُ بَصِيرًا ﴿١٢٥﴾

၁၂၅။ (ထိုအခါ) ထိုသူက "အို-ကျွန်တော်မျိုးအား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်၊ ကျွန်တော်မျိုး သည် မျက်စိမြင်သူ (တစ်ဦး)ဖြစ်ခဲ့ပါလျက် အရှင် မြတ်သည် အဘယ်ကြောင့် ကျွန်တော်မျိုးအား မျက်ကန်းအဖြစ် ရှင်ပြန်ထစေတော်မူပါသနည်း"ဟု လျှောက်ထားပေမည်။

---

(၁) ဤအာယတ်တော်တွင် လာရှိသော "မအီရှတန်ဆွာန်ကန်" (ကျပ်တည်းသော အသက်ရှင်မှု)ကား အဘယ်နည်း- ဤတွင် အနက်အမျိုးမျိုး ဖွင့်ထားကြသည်ကို တွေ့ရှိရပေသည်။

၁။ အလ္လာဟ်အရှင်မြတ်၏ တရားဒေသနာတော်ကို သွေဖည်ကျောခိုင်းသူတစ်ဦးသည် နောင်တမလွန် တွင် တစ်စုံတစ်ရာမျှော်လင့်ချက် မထားရှိပေ။ မျှော်လင့်ချက်ထားရန်လည်း အကြောင်းမရှိပေ။ ထိုသို့သော သူတစ်ဦးအဖို့ ဥစ္စာသည် အမိ၊ ဥစ္စာသည် အဘ၊ ဥစ္စာသည် အဓိကဖြစ်လျက် ရှိပေသည်။ လောကီရေးရာများတွင် နစ်မွန်း၍ ဥစ္စာတိုးပွားရေးကိုသာ ရှေးရှုကာ ပင်ပန်းကြီးစွာဖြင့် မနားမနေ ကြိုးပမ်းအားထုတ်ပေသည်။ သေရေးနှင့် ဥစ္စာပစ္စည်း ပျက်စီးယိုယွင်းသွားမည့် အရေးကို တွေး၍တွေး၍ အခါခပ်သိမ်း ပူပန်သောက ဖြစ်လျက်ရှိပေသည်။ ထိုသို့သောသူများသည် အမြင်အားဖြင့် ဥစ္စာဓန အဘယ်မျှပင် ပေါကြွယ်ဝကြလင့်ကစား စိတ္တသုခကား ၎င်းတို့၌ အလျှင်းမရှိပေ။

အနောက်နိုင်ငံရှိ ကုဋေကုဋာ ချမ်းသာကြွယ်ဝသော အချို့သဌေးကြီးများသည် ညဥ့်များတွင် နှစ်နာရီခန့်မျှပင် ကောင်းစွာ မအိပ်စက်နိုင်ကြပေ။ (အချို့သဌေးများသည် မိမိတို့၏ များပြားလှသော ပြဿနာများ၏ဒဏ်ကို မခံနိုင်ပဲ နောက်ဆုံးတွင် မိမိကိုယ်ကိုမိမိ သေကြောင်းပင်ကြံစည်ကြပေသည်။)

၂။ "မအီရှတန်ဆွာကန်" ဟူသည် မိမိတွင် မည်သည့်ကောင်းမှုကိုမျှ လက်မခံသော အသက်ရှင်ခြင်း မျိုးကို ဆိုလိုသည်။ (ဝါ) ယင်း ရှင်ခြင်းသည် မိမိတွင်မည်သည့်ကောင်းမှုကိုမျှ လက်မခံနိုင်လောက်အောင်ပင် ကျပ်တည်းလျက်ရှိပေသည်။

➤➤

قَالَ كَذٰلِكَ اَتَتْكَ اٰيٰتُنَا فَنَسِيْتَهَا ۚ وَكَذٰلِكَ الْيَوْمَ تُنْسٰى ﴿١٢٦﴾

**၁၂၆။** (ထိုအခါ) ထိုအရှင်မြတ်သည် (ဤသို့) မိန့်ကြားတော်မူပေမည်။ (ဤကိစ္စသည်) ဤအတိုင်းပင်ဖြစ်ပေမည်။ ငါအရှင်မြတ်၏ သက်သေသာဓကများသည် အသင့်ထံ ရောက်ရှိလာခဲ့သောအခါ အသင်သည် ထိုသက်သေ သာဓကများကို (ယုံကြည်လက်ခံခြင်း မပြုဘဲ) စွန့်ထားခဲ့လေသည်။ ထိုနည်းအတိုင်းပင် ယနေ့ အသင်သည်လည်း စွန့်ထားခြင်းကို ခံရပေမည်။

وَكَذٰلِكَ نَجْزِيْ مَنْ اَسْرَفَ وَلَمْ يُؤْمِنْ بِاٰيٰتِ رَبِّهٖ ۗ وَلَعَذَابُ الْاٰخِرَةِ اَشَدُّ وَاَبْقٰى ﴿١٢٧﴾

**၁၂၇။** စင်စစ်သော်ကားဤအတိုင်းပင် ငါအရှင်မြတ်သည် အကြင်သူအား အစားပေးတော်မူပေမည်။ ထိုသူသည် စည်းမဲ့ကမ်းမဲ့ ပြုလုပ်ခဲ့ပေသည်။ ၎င်းပြင် ထိုသူသည် မိမိအား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၏ သက်သေ သာဓကများ ကိုလည်း မယုံကြည်ခဲ့ချေ။ စင်စစ်ဧကန် တမလွန်ဘဝ၏ ပြစ်ဒဏ်သည်ကား ပိုမို၍ပင်ပြင်းထန်လှ၏။ ၎င်းပြင် ပိုမို၍ပင် တည်မြဲလှပေသတည်း။

اَفَلَمْ يَهْدِ لَهُمْ كَمْ اَهْلَكْنَا قَبْلَهُمْ مِّنَ الْقُرُوْنِ يَمْشُوْنَ فِيْ مَسٰكِنِهِمْ ۗ اِنَّ فِيْ ذٰلِكَ لَاٰيٰتٍ لِّاُولِي النُّهٰى ﴿١٢٨﴾

**၁၂၈။** အသို့ပါနည်း၊ ငါအရှင်မြတ်သည် ၎င်းတို့အလျင် များစွာသော ရှေးလူဟောင်းတို့ကို ပျက်စီးစေတော်မူခဲ့ခြင်းသည် ၎င်းတို့အား တရားလမ်းမှန်ကို မရစေခဲ့လေသလော။ ၎င်းတို့သည် ထိုရှေးလူဟောင်းများ၏ နေထိုင်ရာနေရာများတွင်သွားလာလှုပ်ရှားလျက်ရှိကြပေသည်။ ဧကန်စင်စစ် ဤသည်၌ ဆင်ခြင်တုံတရားရှိသူတို့အဖို့ အမှန်ပင် သက်သေလက္ခဏာများသည် ရှိကုန်၏။ [၁]

▶▶ ၃။ "မအီရှတန်သွာကန်" ဟူသည် 'ဗရ်ဇခ်' ၌ သင်္ချိုင်းတွင် ခံစားရမည့်ပြစ်ဒဏ်ကိုဆိုသည်။ အချို့သာဝကကြီးများကလည်း ဤအတိုင်းပင် အနက်ဖွင့်ခဲ့ကြပေသည်။

အထက်ပါ အဆိုအရပ်ရပ်သည် ဤအာယတ်တော်တွင် အကျုံးဝင်နိုင်ပေသည်။

(၁) အလ္လာဟ်အရှင်မြတ်သည် မက္ကာမြို့သား ကာဖိရ်များအလျင် ၎င်းတို့၏ပတ်ဝန်းကျင်၌ပင် များစွာသော▶▶

وَلَوْلَا كَلِمَةٌ سَبَقَتْ مِن رَّبِّكَ لَكَانَ لِزَامًا وَأَجَلٌ مُّسَمًّى ﴿١٢٩﴾

၁၂၉။ စင်စစ် အကယ်၍သာ အသင့်အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်အထံတော်မှ အမိန့်တော်တစ်ရပ်သည်လည်းကောင်း၊ သတ်မှတ်ပိုင်းခြားအပ်သော အချိန်ကာလတစ်ခုသည်လည်းကောင်း၊ မူလကပင် မရှိခဲ့ပါလျှင် အမှန်ပင် (ပြစ်ဒဏ်သည် ၎င်းတို့အပေါ်၌) မလွှဲမရှောင်သာဆိုက်ရောက်ခဲ့မည်သာ။ ၁

➤➤ မျိုးနွယ်များကို အပြစ်ရှိသည့်အားလျော်စွာ ကွပ်မျက်ဖျက်ဆီးတော်မူခဲ့သည်။ မက္ကာမြို့သား ကာဖိရ်များသည် ထိုသို့ ကွပ်မျက်ဖျက်ဆီးခြင်းခံခဲ့ကြရသော မျိုးနွယ်များ၏ ရာဇဝင်သမိုင်းကိုလည်း ကောင်းစွာသိကြပေသည်။ မိမိတို့ကိုယ်တိုင်လည်း ထိုမျိုးနွယ်များ၏ နေထိုင်ရာဒေသများတွင် ဖြတ်သန်းသွားလာ လှုပ်ရှားလျက်ရှိကြပေသည်။

ထိုမျိုးနွယ်များ၏ အချို့အဆောက်အအုံများနှင့် ရှေးဟောင်းပစ္စည်းများကိုလည်း မိမိတို့ကိုယ်တိုင်တွေ့မြင်နေကြရပေသည်။ သို့ပါလျက် မက္ကာမြို့သား ကာဖိရ်များသည် ဤသည့်အချက်ကို စဉ်းစား ဆင်ခြင်၍ တရားမမြင်ကြလေသလော။ သင်ခန်းစာ မယူကြလေသလော။ ဆင်ခြင်တုံတရားရှိသော ပညာရှင်တို့အဖို့ ဤသည်တွင် အမှားနှင့်အမှန်ကို ခွဲခြားသိရှိနိုင်ရန် သက်သေလက္ခဏာများ ရှိပေသည်။

① အလ္လာဟ်အရှင်မြတ်သည် 'ရဟ်မာန်' မဟာကရုဏာတော်ရှင် ဖြစ်တော်မူသည်။ ထိုအရှင်မြတ်၏ ကရုဏာတော်သည် ထိုအရှင်မြတ်၏ အမျက်တော်ထက် သာလွန်လျက် ရှိတော်မူပေသည်။ ထို့ပြင်တစ်ဝ အလ္လာဟ်အရှင်မြတ်ထံတော်၌ အရာရာတိုင်းအတွက် အချိန်သတ်မှတ်ထားတော်မူပြီးဖြစ်သည်။ ထို့အတွက်ကြောင့်ပင် ထိုအရှင်မြတ်သည် ပြစ်မှုရှိသူများအား ချက်ချင်း အရေးယူတော်မမူဘဲ မိမိတို့ကိုယ်ကို မိမိတို့ကိုယ်တိုင် ပြုပြင်နိုင်ကြရန် အလို့ငှာ အချိန်အတော်အတန် လျစ်လျူပြုထားတော်မူသည်။

အလ္လာဟ်အရှင်မြတ်သည် အကြောင်းမခိုင်လုံသမျှ ကာလပတ်လုံး ပြစ်ဒဏ်ခတ်တော်မမူပေ။

တမန်တော်မြတ်၏ အမျိုးသားများနှင့်ပတ်သက်၍ကား ---"၎င်းတို့တွင် အသက်ရှင်နေသမျှကာလပတ်လုံး အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့အား ပြစ်ဒဏ်ခတ်တော်မူမည်မဟုတ်" ဟူ၍ပင် အာယတ်တော်လာရှိပေသည်။ ကြည့်-ကုရ်အာန်(၈း၃၃)။

ဤသို့သာ အလ္လာဟ်အရှင်မြတ်၏ အာယတ်တော် မရှိခဲ့ပါလျှင်၊ အပြစ်ရှိသူများအား ပြစ်ဒဏ်ခတ်ရန်သီးသန့်အချိန်တစ်ချိန် သတ်မှတ်ထားတော်မူခြင်း မရှိခဲ့ပါလျှင်၊ အပြစ်ရှိသူများသည် အပြစ်ရှိသည့် အားလျော်စွာ မဆိုင်းမတွ ချက်ချင်း ပြစ်ဒဏ်တပ်ရိုက်ခြင်းကို ခံကြရမည်သာဖြစ်သည်။

ယခုမူ အထက်တွင်ဖော်ပြပါအတိုင်း အလ္လာဟ်အရှင်မြတ်၏ အာယတ်တော်ရှိနေ၍သာလျှင် လျစ်လျူပြုထားတော် မူခြင်းဖြစ်သည်။ သို့ရာတွင် အပြစ်ရှိသူများသည် မိမိတို့အား အရေးမယူသေးဘဲ လျစ်လျူပြုထားတော် မူသည့်အချိန်တွင် မိမိတို့ကိုယ်ကိုမိမိတို့ မပြုပြင်ကြပါက နောက်ဆုံးကိယာမတ်နေ့တွင် ကြီးလေးသောပြစ်ဒဏ်ကို မလွဲဧကန် အမှန်ခံကြရမည်ဖြစ်ပေသည်။ အကြောင်းထူးရှိ၍ အပြစ်ဒဏ်ခတ်ရန် အချိန်ကျရောက်လာခဲ့ပါက ဤပစ္စက္ခဘဝတွင်လည်း ပြစ်ဒဏ်ခံကြရမည်ဖြစ်သည်။

ဥပမာ- မက္ကာမြို့သား ကာဖိရ်၊ မုရှ်ရိက်များသည် 'ဗဒ်ရ်' စစ်ပွဲတွင် မရှုမလှ ပျက်စီးဆုံးရှုံးခဲ့ကြရလေသည်။

فَاصْبِرْ عَلٰى مَا يَقُوْلُوْنَ وَسَبِّحْ بِحَمْدِ رَبِّكَ قَبْلَ طُلُوْعِ الشَّمْسِ وَقَبْلَ غُرُوْبِهَا ۚ وَمِنْ اٰنَآئِ الَّيْلِ فَسَبِّحْ وَاَطْرَافَ النَّهَارِ لَعَلَّكَ تَرْضٰى ﴿١٣٠﴾

၁၃၀။ သို့ဖြစ်ပေရာ (အို-နဗီတမန်တော်) အသင်သည် ၎င်းတို့ပြောဆိုကြသော ကိစ္စနှင့်စပ်လျဉ်း၍ သည်းခံပါလေ။ ထို့ပြင် အသင်သည် (မိမိ) ကျေနပ်မှုရှိအံ့သောငှာ [1] နေမထွက်မီလည်းကောင်း၊ နေမဝင်မီလည်းကောင်း၊ မိမိအား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်အား ချီးမွမ်းခြင်းနှင့်တကွ (ထိုအရှင်မြတ်အား) ဂုဏ်တော်မွမ်းပါလေ။ ထို့ပြင် အသင်သည် ညဉ့်အချိန်များတွင်လည်းကောင်း၊ နေ့၏အစွန်များ၌လည်းကောင်း၊(ထိုအရှင်မြတ်) သန့်ရှင်းစင်ကြယ်တော်မူကြောင်းကို မြွက်ဆိုပါလေ။ [2]

وَلَا تَمُدَّنَّ عَيْنَيْكَ اِلٰى مَا مَتَّعْنَا بِهٖٓ اَزْوَاجًا مِّنْهُمْ زَهْرَةَ الْحَيٰوةِ الدُّنْيَا ۙ لِنَفْتِنَهُمْ فِيْهِ ۗ وَرِزْقُ رَبِّكَ خَيْرٌ وَّاَبْقٰى ﴿١٣١﴾

၁၃၁။ ထို့ပြင် အသင်သည် ငါအရှင်မြတ်က ယင်း(ကာဖိရ်မိစ္ဆာဝါဒီ)တို့အနက် လူတန်းစားအမျိုးမျိုးတို့အား အကျိုးခံစားစေတော်မူခဲ့သော ဥစ္စာပစ္စည်းကို မိမိမျက်စိအစုံဖြင့် မော်၍မျှ မကြည့်ပါလေနှင့်။ (အမှန်သော်ကား) ငါအရှင်မြတ်သည် ယင်းဥစ္စာပစ္စည်းနှင့်စပ်လျဉ်း၍ ၎င်းတို့အားစမ်းသပ်တော်မူရန် လောကီဘဝ၏ ခမ်းနားသိုက်မြိုက်မှုအဖြစ်သာလျှင် (အကျိုးခံစားစေတော်မူခြင်းပင်)ဖြစ်ချေသည်။

---

(၁) တမန်တော်မြတ်သည် အထက်တွင်ပါရှိသည့် အမိန့်တော်နှင့်အညီ သည်းခံပါသော်၊ ဆွလာတ်ဝတ်ပြုပါသော် နှစ်ဘဝစလုံးတွင် အမြဲတစေ ကျေနပ်နှစ်သက် ဝမ်းသာကြည်နူးလျက် ရှိတော်မူပေမည်။ ဤသို့ လိုက်နာကျင့်မှုသည့်အတွက် ကြီးမားမြင့်မြတ်လှသော ကုသိုလ်အကျိုးကိုလည်း ခံစားရတော်မူမည်။ မိမိ၏ နောက်လိုက်တပည့်သားတို့အား ဤပစ္စက္ခဘဝတွင်လည်း ကူညီတော်မူနိုင်မည်၊ နောင်တမလွန်ဘဝတွင်လည်း လွတ်ငြိမ်းချမ်းသာခွင့် ပန်ကြားပေးတော်မူနိုင်မည်။ ဤသည်တို့ကို တွေ့မြင်ရသောအခါ တမန်တော်မြတ်သည် အကျေနပ်ကြီးကျေနပ်ပြီး ဝမ်းသာမဆုံး ဖြစ်တော်မူပေမည်။

(၂) **ဆွလာတ်ငါးကြိမ်။**

(က) ဤအာယတ်တော်နှင့်စပ်လျဉ်း၍ အဆိုအမျိုးမျိုးကို တွေ့ရှိရပေသည်။ နေမထွက်မီဟူသည် ဖဂျ်ရ်ဆွလာတ်ကို ဆိုလိုသည်။ နေမဝင်မီဟူသည် ဇုဟ်ရ်ဆွလာတ်နှင့် အဆ်ွရ်ဆွလာတ်ကို ဆိုလိုသည်။ ညဉ့်အချိန်များဟူသည် မဃ်ရိဗ်နှင့် အိရှာကို ဆိုလိုသည်။ ဤသို့အားဖြင့် ဆွလာတ်ငါးကြိမ် ဖြစ်သွားသည်၊ ➤➤

စင်စစ် အသင့်အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ် ချီးမြှင့်တော်မူသော စားနပ်ရိက္ခာသည်သာလျှင်အကောင်းဆုံး၊ ထို့ပြင် (အကြာရှည်ဆုံး) အတည်မြဲဆုံးပင် ဖြစ်ပေသည်။

وَأْمُرْ أَهْلَكَ بِالصَّلَوٰةِ وَاصْطَبِرْ عَلَيْهَا ۖ لَا نَسْـَٔلُكَ رِزْقًا ۖ نَّحْنُ نَرْزُقُكَ ۗ وَالْعَٰقِبَةُ لِلتَّقْوَىٰ ١٣٢

၁၃၂။ ၎င်းပြင် အသင်သည် မိမိအိမ်သူအိမ်သားတပည့်သာဝကတို့အားဆွလာတ်ဝတ်ပြုကြရန် အမိန့်ပေးလျက်ရှိပါလေ။ [၁] ထို့ပြင် အသင်ကိုယ်တိုင်လည်း ယင်းဆွလာတ်ဝတ်ပြုမှုအပေါ်၌ မယိမ်းမယိုင် တည်ကြည် မြဲမြံစွာရှိပါလေ။ ငါအရှင်မြတ်သည် အသင့်ထံတွင် စားနပ်ရိက္ခာကို တောင်းခံတော်မူမည် မဟုတ်ပေ။ (အမှန်မှာ) ငါအရှင်မြတ်သည်သာလျှင် အသင့်အား ရိက္ခာကို ချီးမြှင့်တော်မူလေသည်။ စင်စစ် နောက်ဆုံးအကျိုးဆက်သည် သူတော်စင်တို့အဖို့သာ ဖြစ်သည်။ [၂]

---

➢➢ နေ့၏အစွန်များဟူသည် ဖဂျ်ရ်နှင့် မဃ်ရိဗ်ကို အထူးတလည် ထပ်မံရည်ညွှန်းထားတော်မူခြင်းဖြစ်သည်။ ကြည့်-မာဂျိဒီ၊ ထာနဝီ။

အချို့ပညာရှင်များက နေ့၏အစွန်များဟူသည် ဇုဟ်ရ်နှင့် အတ်ဆွ်ရ်ကို ရည်ညွှန်းသည်ဟု ဆိုကြသည်။ အချို့ကမူ နေ့၏အစွန်များဟူသည် ဇုဟ်ရ်ကိုသာ ရည်ညွှန်းသည်ဟု ဆိုကြသည်။ ကြည့်-မာဂျိဒီ။

(ခ) နေမထွက်မီဟူသည် ဖဂျ်ရ်ဆွလာတ်ကို ဆိုလိုသည်။ နေမဝင်မီဟူသည် အတ်ဆွ်ရ်ဆွလာတ်ကို ဆိုလိုသည်။ ညဉ့်အချိန်များတွင်ဟူသည် မဃ်ရိဗ်နှင့် အိရှာကို ဆိုလိုသည်။ နေ့၏အစွန်များတွင်ဟူသည် ဇုဟ်ရ်ဆွလာတ်ကို ဆိုလိုသည်။ ကြည့်-ဂျလာလိုင်န်။

(၁) မိမိကိုယ်တိုင်လည်း အမြဲတစေ ဆွလာတ်ဝတ်ပြုရမည်၊ မိမိ၏ အိမ်သူအိမ်သားအပေါင်းအဖော်များနှင့် နောက်လိုက်ငယ်သား အားလုံးတို့အားလည်း ဆွလာတ်ဝတ်ပြုရန် အမြဲတစေ ညွှန်ကြားလျက်ရှိရပေမည်။

တမန်တော်မြတ်က "ကလေး ခုနစ်နှစ်အရွယ်ရောက်လျှင် (အလေ့အကျင့်ဖြစ်စေရန်အလို့ငှာ) ဆွလာတ်ဝတ်ပြုရန် ညွှန်ကြားကြ၊ ဆယ်နှစ်အရွယ်သို့ရောက်လျှင် ရိုက်ပုတ်၍ ဆွလာတ်ဝတ်ပြုစေကြ" ဟု မိန့်ကြားတော်မူခဲ့လေသည်။

တမန်တော်မြတ်သည် မိမိအိမ်တော်သူ အိမ်တော်သားများ၌ ဒုက္ခတစ်စုံတစ်ရာ ဖြစ်ပေါ်လျှင်၊ အိမ်တော်သူ အိမ်တော်သားတို့အား ဆွလာတ်ဝတ်ပြုရန် အမိန့်ပေးတော်မူ၍ ဤအာယတ်တော်ကို ရွတ်ဖတ်သရဇ္ဈာယ်တော်မူလေ့ရှိခဲ့သည်။

وَقَالُوْا لَوْلَا يَاْتِيْنَا بِاٰيَةٍ مِّنْ رَّبِّهٖ ؕ اَوَلَمْ تَاْتِهِمْ بَيِّنَةُ مَا فِى الصُّحُفِ الْاُوْلٰى ﴿۱۳۳﴾

၁၃၃။ ထို့ပြင် ၎င်းတို့က ယင်း(မုဟမ္မဒ်)သည် အဘယ်ကြောင့် မိမိအား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်အထံတော်မှ သက်သေလက္ခဏာ တစ်စုံတစ်ရာကို ကျွန်ုပ်ထံ ယူဆောင်၍မလာပါသနည်းဟု ပြောဆို ကြကုန်၏။ အသို့ပါနည်း။ ၎င်းတို့ထံ ရှေးကျမ်းများ၌လာရှိသော ရှင်းလင်းချက်များသည် ရောက်ရှိမလာခဲ့လေသလော။

وَلَوْ اَنَّاۤ اَهْلَكْنٰهُمْ بِعَذَابٍ مِّنْ قَبْلِهٖ لَقَالُوْا رَبَّنَا لَوْلَاۤ اَرْسَلْتَ اِلَيْنَا رَسُوْلًا فَنَتَّبِعَ اٰيٰتِكَ مِنْ قَبْلِ اَنْ نَّذِلَّ وَنَخْزٰى ﴿۱۳۴﴾

၁၃၄။ စင်စစ် အကယ်၍သာ ငါအရှင်မြတ်သည် ၎င်းတို့အား ထို(နဗီတမန်တော်မုဟမ္မဒ်၊ ထိုကုရ်အာန်မကျရောက်မီ)အလျင် ပြစ်ဒဏ် တစ်စုံတစ်ရာဖြင့် ပျက်စီးစေတော်မူခဲ့ပါလျှင် အမှန်ပင် ၎င်းတို့က "အို-ကျွန်တော်မျိုးတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၊ အရှင်မြတ်သည် အဘယ်ကြောင့် ကျွန်တော်မျိုးတို့ထံ ရစူလ်တမန်တော် တစ်ပါးပါးကို စေလွှတ်တော်မမူခဲ့ပါသနည်း။

---

(၂) လူ့လောကတွင် ငွေရှင်ကြေးရှင်၊ မြေရှင်၊ အလုပ်ရှင် စသည့် ရှင်ကြီးရှင်ငယ်များသည် လက်အောက်ငယ်သားအလုပ်သမားတို့အား ခိုင်းစေ၍ မိမိတို့၏ဝမ်းရေးကို ဖန်တီးကြသည်။

ကမ္ဘာ့အဝှန်းကို စိုးပိုင်တော်မူသော အလ္လာဟ်အရှင်မြတ်ကား ဤသို့မဟုတ်၊ မိမိကိုယ်တော်တိုင် ဖန်ဆင်းမွေးမြူထားတော်မူသော အဖန်ဆင်းခံအားလုံးတို့အား မိမိကိုယ်တော်တိုင် စားနပ်ရိက္ခာ ပေးတော်မူသည်၊ စားနပ်ရိက္ခာများကို လိုလေသေးသည်မရှိ၊ အသင့် စီစဉ်ပေးထားတော်မူသည်။

သို့ဖြစ်ပေရာ လူသားတို့သည် ထိုသို့သော ကျေးဇူးတော်ရှင်အား ကျေးဇူးသိတတ်သောအားဖြင့် ခဝပ်ကိုးကွယ် ကြရပေမည်သာ ဖြစ်ပေသည်။ 'တာက္ကဝါ' တရား အမြဲတစေ စောင့်စည်းကြရပေမည်။ အဘယ်ကြောင့်ဆိုသော် နောက်ဆုံးအကျိုးဆက် အောင်မြင်မှုသည် တာက္ကဝါတရား စောင့်စည်းကြသော သူမွန်သူမြတ်တို့ အဖို့သာဖြစ်သည်။

ဤတွင် သိထားအပ်သည်မှာ အလ္လာဟ်အရှင်မြတ်အား လူသားတို့က ခဝပ်ကိုးကွယ်ခြင်းဖြင့် ထိုအရှင်မြတ်၌ မည်သို့မျှ အကျိုးမရှိ၊ လူသားတို့၌သာ အကျိုးရှိပေသည်။ အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ရိုသေခန့်ညား၍ ဆွလာတ်ဝတ်ပြုသူအား ထိုအရှင်မြတ်သည် ထိုသူ မမျှော်မှန်းမိသော နေရာမှပင်စားနပ်ရိက္ခာများကို ချီးမြှင့်တော်မူလေ့ရှိသည်။ ကြည့်-ကုရ်အာန်(၆၅:၂-၃)။

သို့(စေလွှတ်တော်မူခဲ့)ပါလျှင် ကျွန်တော်မျိုးတို့သည် မိမိတို့ဂုဏ်အသရေ နိမ့်မကျကြမီ အလျင်၌လည်းကောင်း၊ ကျိုးယုတ်ရှက်ရ မဖြစ်ကြမီအလျင်လည်းကောင်း၊ အရှင်မြတ်၏ အမိန့် ပညတ်တော်များကို လိုက်နာကြမည်သာ ဖြစ်ပါသည်" ဟု ပြောဆိုကြပေမည်။

قُلْ كُلٌّ مُّتَرَبِّصٌ فَتَرَبَّصُوا ۖ فَسَتَعْلَمُونَ مَنْ أَصْحَابُ الصِّرَاطِ السَّوِيِّ وَمَنِ اهْتَدَىٰ ﴿١٣٥﴾

**၁၃၅။** (အို-နဗီတမန်တော်) အသင်သည် (၎င်းတို့အား ဤသို့)ပြောကြားပါလေ။ (အချင်းတို့၊) အားလုံးပင် စောင့်မျှော်၍နေသူများပင်ဖြစ်ကြပေရာ အသင်တို့သည်လည်း စောင့်မျှော်ကြလေကုန်။ သို့(စောင့်မျှော်ကြ)ပါလျှင် မကြာမြင့်မီ မည်သူတို့သည် ဖြောင့်မှန်သောလမ်းပေါ်၌ ရှိခဲ့သူများ ဖြစ်ကြသည်ကိုလည်းကောင်း၊ မည်သူတို့သည် တရားလမ်းမှန် ရရှိခဲ့သူများဖြစ်ကြသည်ကိုလည်းကောင်း၊ အသင်တို့သည် သိရှိကြအံ့သတည်း။ [၁]

---

(၁) **အမှန်တရားပေါ်၌ ရပ်တည်နေခဲ့သူများမှာ မည်သူမည်ဝါများဖြစ်ကြသည်ကို မကြာမီအတွင်း သိကြရတော့မည်။**

အလ္လာဟ်အရှင်မြတ်သည် တမန်တော်မြတ်အား များစွာသော သက်သေလက္ခဏာတော်များကို ချီးမြှင့်တော်မူခဲ့၏။ ယင်းသည့် သက်သေလက္ခဏာတော်များတွင် ကုရ်အာန်ကျမ်းမြတ်သည် အကြီးဆုံးနှင့် အထင်ရှားဆုံး သက်သေလက္ခဏာတော်ဖြစ်သည်။ ဤကုရ်အာန်ကျမ်းမြတ်နှင့်စပ်လျဉ်း၍ အတိတ်ခေတ်ကျမ်းအစောင်စောင်တို့တွင်လည်း ကြိုတင်ဟောကြားချက်များ ပါရှိခဲ့၏။ ကုရ်အာန်ကျမ်းမြတ်သည် အလ္လာဟ်အရှင်မြတ်၏ အာယတ်တော်ဖြစ်၏။

ကုရ်အာန်နှင့်စပ်လျဉ်း၍ ဒွိဟသံသယရှိက ကုရ်အာန်နှင့်ယှဉ်ပြိုင်ကြရန် ကမ္ဘာ့အဝှန်းသို့ အတိအလင်းကြေညာထား၏။ ယနေ့တိုင် မည်သူတစ်ဦးတစ်ယောက်မျှ မယှဉ်ပြိုင်နိုင်ခဲ့ပေ၊ နောင်ကိုလည်း ယှဉ်ပြိုင်နိုင်ရန်အကြောင်းလည်းမရှိပေ။ ယင်းသို့သော ကုရ်အာန်ကျမ်းမြတ်ကို တမန်တော်မြတ်အား ချီးမြှင့်ထားတော်မူသည်ဖြစ်ပါလျက် ကာဖိရ်များက "ကျွန်ုပ်တို့ထံသို့ မိမိအရှင်သခင်ထံမှ သက်သေလက္ခဏာတော် တစ်ပါးပါးကိုအဘယ်ကြောင့် ယူဆောင်မလာခဲ့ပါသနည်း"ဟု အပြောင်တိုက်ကာ ဖွတ်မိုက်၍ပြောဆိုခဲ့ကြလေသည်။ ဤအကြောင်း ကုရ်အာန် (၂၉း၅၀-၅၁)တွင်လည်း ပါရှိသည်။ 

➤➤ အလ္လာဟ်အရှင်မြတ်သည် တမန်တော်မြတ်အား စေလွှတ်တော်မူပြီး ကုရ်အာန်ကျမ်းမြတ်ကို ချီးမြှင့်ထားတော်မူသည်၊ ဤသည်ကို ကာဖိရ်များလည်း ကောင်းစွာသိကြသည်။ သိကြပါလျက်နှင့် မသိချင်ဟန်ဆောင်နေကြသည်။

အကယ်၍သာ အလ္လာဟ်အရှင်မြတ်သည် တမန်တော်အား စေလွှတ်တော်မမူမီ အလျင်၊ ကုရ်အာန်ကျမ်းမြတ်ကို ထုတ်ပြန်မပို့ချမီအလျင် ၎င်းတို့အား ကုဖ်ရ်ကြောင့် ပြစ်ဒဏ်တစ်စုံတစ်ရာဖြင့် ကွပ်မျက်ဖျက်ဆီးတော်မူခဲ့ပါသော် ၎င်းတို့က "အို-ကျွန်တော်မျိုးတို့၏အရှင်မြတ်၊ အရှင်မြတ်သည် ကျွန်တော်မျိုးတို့ထံသို့ တမန်တော်တစ်ပါးပါးကို အဘယ်ကြောင့် စေလွှတ်တော်မမူပါသနည်း၊ သို့စေလွှတ်တော်မူပါလျှင် ကျွန်တော်မျိုးတို့သည် အရှက်တကွဲ အကျိုးနည်း မဖြစ်ကြမီအလျင် အရှင်မြတ်၏ တရားဒေသနာတော်များကို လိုက်နာကြမည်သာ ဖြစ်ပါသည်" ဟူ၍ ပရိယာယ်ဖြင့် လျှောက်ထားကြပေဦးမည်။

ကာဖိရ်များကား အလွန်ဆိုးသွမ်းမိုက်မဲကြသည်၊ တမန်တော်တစ်ပါးပါး မစေလွှတ်မီ အပြစ်ရှိ၍ ပြစ်ဒဏ်ခတ်တော်မူပါက တမန်တော်တစ်ပါးပါး အဘယ်ကြောင့် စေလွှတ်တော်မမူပါသနည်းဟု ဆိုကြသည်။ တမန်တော်ရောက်ရှိလာပြန်သော် သက်သေလက္ခဏာတော်ကို တောင်းဆိုကြပြန်သည်။ သက်သေလက္ခဏာတော်ရောက်ရှိလာပြန်သော မသိချင်ဟန်ဆောင်ပြီး အခြားသက်သေလက္ခဏာတော်ကို တောင်းဆိုကြပြန်သည်။ အမှန်မှာ ကာဖိရ်များသည် အမှန်တရားကို အလျှင်းရယူလိုကြသည်မဟုတ်၊ ဆင်ခြေအမျိုးမျိုးတက်ကာ သွေဖည်ငြင်းဆန်နေကြခြင်းသာဖြစ်သည်။

ထို့အတွက်ကြောင့်ပင် တမန်တော်မြတ်အား ဤအာယတ်တော်တွင် လာရှိသည့်အတိုင်း "အို-ကာဖိရ်အပေါင်းတို့၊ ငါလည်းစောင့်မည်၊ အသင်တို့လည်းစောင့်ကြ၊ မကြာမီအတွင်း မည်သည့်အုပ်စုသည် ဖြောင့်မတ်မှန်ကန်သော တရားလမ်းစဉ်အပေါ်၌ တည်ရှိနေသည်ကို အထင်အရှား တွေ့မြင်ကြရတော့မည်" ဟု ကြေညာစေတော်မူ ခြင်း ဖြစ်သတည်း။

အလ္လာဟ်အရှင်မြတ်သည် ကျွန်တော်မျိုးတို့အား ဖြောင့်မတ်မှန်ကန်သော တရားလမ်းစဉ်အပေါ်ရပ်တည်နေခဲ့ကြကုန်သော သူတော်စင်အုပ်စုတွင် အပါအဝင်ပြုပေးတော် မူသည်ဖြစ်ပါစေသတည်း။ အာမီန်။

# နဗီတမန်တော်များကဏ္ဍ

سُوْرَةُ الْاَنْبِيَاءِ

ဤကဏ္ဍသည် နဗီတမန်တော်များအကြောင်း ပါဝင်သော ကဏ္ဍဖြစ်သည်။
ဤကဏ္ဍသည် မက္ကာမြို့တော်၌ ထုတ်ပြန်ပို့ချတော်မူသော ကဏ္ဍဖြစ်သည်။
ဤကဏ္ဍတွင် အာယတ်တော် (၁၁၂)ပါး ရကူအ်-အပိုဒ် (၇)ပိုဒ် ပါရှိ၏။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ

အနန္တဂရုဏာတော်ရှင် ဖြစ်တော်မူသော၊
မပြတ်မစဲ သနားကြင်နာတော်မူသော
အလ္လာဟ်အရှင်မြတ်၏ နာမံတော်ဖြင့် အစပြုပါ၏။

اِقْتَرَبَ لِلنَّاسِ حِسَابُهُمْ وَهُمْ فِيْ غَفْلَةٍ مُّعْرِضُوْنَ ①

၁။ လူသားတို့အား စစ်ဆေးရန် အချိန်ကာလသည်၎င်းတို့နှင့်နီးကပ်၍လာခဲ့လေပြီ။ အမှန်သော်ကား ၎င်းတို့သည် မျက်နှာလွှဲလျက် ပေါ့ဆမှု၌ပင် ရှိကြသေး၏။ ၁

مَا يَاْتِيْهِمْ مِّنْ ذِكْرٍ مِّنْ رَّبِّهِمْ مُّحْدَثٍ اِلَّا اسْتَمَعُوْهُ وَهُمْ يَلْعَبُوْنَ ②

၂။ ၎င်းတို့ထံ ၎င်းတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်အထံတော်မှ မည်သည့် သစ်လွင်သော သတိပေးနှိုးဆော်ချက်မဆို ရောက်လတ်သော် ၎င်းတို့သည် ယင်းသတိပေး နှိုးဆော်ချက်ကို ပြက်ချော်ပြောင်လှောင်၍သာ နားထောင်ကြကုန်၏။

(၁) **စစ်ဆေးရန်အချိန်ကား နီးကပ်လာချေပြီ။**

စာကြောစစ်ဆေးမေးမြန်းရန်နှင့် ကျိုးပြစ်ပေးရန် အချိန်ကား နီးကပ်လာချေပြီ။ သို့တစေလည်း ဤသူများသည် (ကာဖိရ်၊ မုရှ်ရစ်က်တို့သည်) တွေဝေမိုက်မဲမှုများစွာတွင် နစ်မွန်းလျက် အမေ့ကြီးမေ့နေကြသည်။ ကိယာမတ်နေ့တွင် မည်သို့မည်ပုံ ဖြေဆိုကြရမည့်အရေးနှင့်စပ်လျဉ်း၍ ကြိုတင်ပြင်ဆင်မှုကို မည်သူမျှမပြုလုပ်ပေ။

ထိုမျှမကသေး ၎င်းတို့သည် မိမိတို့ထံသို့ အလ္လာဟ်အရှင်မြတ်ထံတော်မှ ရောက်ရှိလာသော သတိပေးသော၊ သစ်လွင်သော တရားဒေသနာတော်များကိုလည်း ဂရုမမူ လျစ်လျူရှုထားကြသည်။ ငါတို့သည် အလ္လာဟ်အရှင်မြတ်၏ ရှေ့တော်သို့ ရောက်ကြရမည်မဟုတ်၊ စာရင်းအင်းဖြေရှင်းကြရမည် မဟုတ်ဟူ၍ပင် ၎င်းတို့ ထင်မှတ်နေကြလေသလော။

အမှန်မှာ လူသားအားလုံးတို့သည် မဝေးလှသော အနာဂတ်တွင် အလ္လာဟ်အရှင်မြတ်၏ ရှေ့တော်မှောက်သို့ ရောက်ကြရတော့မည်။ စာရင်းအင်း ဖြေရှင်းကြရတော့မည်၊ ကျိုးပြစ် ခံစံရတော့မည်။ လူသားတို့သည် ကိယာမတ်ကို မေ့နေသော်လည်း ကိယာမတ်သည် လူသားတို့အား မမေ့ပေ၊ အချိန်တန်လျှင် ရောက်ရှိလာမည်သာ ဖြစ်ပေသည်။

၃။ ၎င်းတို့၏ စိတ်နှလုံးများသည် (ယင်း သတိပေးနိုးဆော်ချက်ကို) ဂရုမမူဘဲ(ရှိကြ၏)။ ၎င်းပြင် (ယင်း)ကျူးလွန်သောသူတို့က ဤသည် အသင်တို့ကဲ့သို့ပင် လူသားတစ်ဦးမျှသာဖြစ်သည်။

သို့ပါလျက် အသင်တို့သည် မိမိတို့ သိမြင်ကြလျက်၌ ပဉ္စလက်(ဆိုင်ရာစကား)ကို (နားထောင်ရန်) လာကြဦးမည်လောဟု လျှို့ဝှက်ဆွေးနွေးကြကုန်၏၊[၁]

لَاهِيَةً قُلُوبُهُمْ ۗ وَأَسَرُّوا النَّجْوَى ۖ الَّذِينَ ظَلَمُوا هَلْ هَٰذَا إِلَّا بَشَرٌ مِّثْلُكُمْ ۖ أَفَتَأْتُونَ السِّحْرَ وَأَنتُمْ تُبْصِرُونَ ③

၄။ (နဗီတမန်တော်က) ငါ့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်သည် မိုးကောင်းကင်၌(ရှိသောစကား)ကိုဖြစ်စေ၊ ပထဝီမြေ၌(ရှိသောစကား)ကိုဖြစ်စေ၊ (အလုံးစုံသော)စကားကိုသိတော်မူ၏။ စင်စစ်ထိုအရှင်မြတ်သည် အကြွင်းမဲ့ သိတော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူ၏။ [၂]

قَالَ رَبِّي يَعْلَمُ الْقَوْلَ فِي السَّمَاءِ وَالْأَرْضِ ۖ وَهُوَ السَّمِيعُ الْعَلِيمُ ④

---

(၁) မက္ကာမြို့သား ကာဖိရ်၊ မုရှ်ရစ်က်များသည် တမန်တော်မြတ်၏ တရားဒေသနာတော်များကို ကြားနာပြီး ပြန်လည်၍ တစ်စုံတစ်ရာ အဖြေမပေးနိုင်ကြသည့် အဆုံးတွင် အချင်းချင်း အထူးလျှို့ဝှက်စွာ အစည်းအဝေးများ ပြုလုပ်ပြီး၊ မိမိတို့၏ နောက်လိုက်ငယ်သားတို့အား "ဤသူ (မုဟမ္မဒ်)သည် အသင်တို့ကဲ့သို့ သာမန်ပုဂ္ဂိုလ်တစ်ဦးပင်ဖြစ်သည်။ အသင်တို့နှင့် တစ်စုံတစ်ရာ ထူးကဲခြားနားသည်လည်းမရှိ။ ကောင်းကင်တမန်လည်း မဟုတ်။ ပဉ္စလက်ဆရာ တစ်ဦးသာဖြစ်သည်။ ဤသူရွတ်ဖတ်သော စကားများသည် ပဉ္စလက်ဆိုင်ရာ စကားများသာဖြစ်သည်။ သို့ဖြစ်ပါလျက် အသင်တို့သည် ဤသူ့ထံသို့ အဘယ်ကြောင့်သွားလိုကြသနည်း။ ဤသူ၏ စကားများကို နားထောင်၍ နားယောင်ကြလိုသလော။ ဤသူ့ထံ သွားရန်လည်း မလို၊ သူ၏စကားများကို နားထောင်ရန်လည်း မလို" ဟု တီးတိုး ဝါဒဖြန့်ခဲ့ကြလေသည်။

ဤကား အမှန်တရားကို ဆန့်ကျင်သူတို့၏ လုပ်ရိုးလုပ်စဉ်ပင်။

(၂) ထိုအခါ တမန်တော်မြတ်က ယင်း ကာဖိရ်၊ မုရှ်ရစ်က်တို့အား "အသင်တို့ ဆည်းကပ်ကိုးကွယ်နေကြသော ရုပ်တုများသည် အမှန်မှာ နားလည်းမကြား၊ စကားလည်းမပြော၊ ကိုယ်လည်းမလှုပ်၊ ကျောက်ရုပ်၊ သစ်ရုပ်၊ လူကိုယ်တိုင်ထုလုပ်ထားသည့် အရုပ်များသာဖြစ်သည်။

အလ္လာဟ်အရှင်မြတ်ကား ထိုသို့မဟုတ်၊ တန်ခိုးတော် အနန္တ၊ ဉာဏ်တော် အနန္တနှင့် ပြည့်စုံတော်မူသော အရှင် ဖြစ်တော်မူသည်။ အရာရာကို ကြားတော်မူသည်၊ သိတော်မူသည်။ အသင်တို့၏ လျှို့ဝှက် ကြံစည်ချက်များကိုလည်း အကြွင်းမဲ့ဥဿုံ အလုံးစုံ သိတော်မူသည်"ဟု ပြောကြားတော်မူခဲ့လေသည်။

بَلْ قَالُوٓا۟ أَضْغَٰثُ أَحْلَٰمٍۭ بَلِ ٱفْتَرَىٰهُ بَلْ هُوَ شَاعِرٌ فَلْيَأْتِنَا بِـَٔايَةٍ كَمَآ أُرْسِلَ ٱلْأَوَّلُونَ ﴿٥﴾

၅။ ထိုသို့မဟုတ်၊ စင်စစ်မှာကား ယင်း(မိစ္ဆာဝါဒီ)တို့က (ဤသို့)ပြောဆိုကြကုန်၏။ (ဤကုရ်အာန်ကျမ်းသည်) *ဂယောင်ချောက်ချား မြင်မက်သော အိပ်မက်မျှသာ ဖြစ်သည်။* [၁] ထိုမျှမက စင်စစ်မှာကား ယင်း(မုဟမ္မဒ်)သည် ဤ(ကုရ်အာန်ကျမ်းတော်)ကို ကြံဖန်(သီကုံး)ခဲ့သည်။ ထိုမျှသာမက စင်စစ်မူကား ယင်း(မုဟမ္မဒ်)သည် လင်္ကာဆရာတစ်ဦးပင် ဖြစ်ပေသည်။ ထိုသို့မဟုတ်ခဲ့လျှင် ရှေးသူဟောင်းများ (ရစူလ်တမန်တော်အဖြစ်) စေလွှတ်ခြင်း ခံခဲ့ရသကဲ့သို့ပင် ယင်း(မုဟမ္မဒ်)သည်လည်း ကျွန်ုပ်တို့ထံ တန်ခိုးပြာဋိဟာ တစ်စုံတစ်ရာကို ယူလာသင့်၏။

---

(၁) မက္ကာမြို့သား ကာဖိရ်၊ မုရှ်ရစ်က်များသည် ကုရ်အာန်ကျမ်းလာ အာယတ်တော်များကို ကြား၍ မည်သို့မျှ ပြန်လည် မချေပနိုင်ကြသည့်အဆုံးတွင် သွေဖည်ငြင်းဆန် မနာခံလိုသောစိတ်ဖြင့် ဗွတ်မိုတ်ပြီး ဂယောင်ချောက်ချား ပြောဆိုခဲ့ကြလေသည်။

ဤကုရ်အာန်ကျမ်းလာ အာယတ်တော်များနှင့် စပ်လျဉ်း၍ တစ်ခါတစ်ရံ ပဋ္ဌလက်အတတ်ဖြစ်သည်ဟူ၍လည်းကောင်း၊ တစ်ခါတစ်ရံ ဂယောင်ဂယက် အိပ်မက်ဖြစ်သည် ဟူ၍လည်းကောင်း၊ တစ်ခါတစ်ရံ ဤကုရ်အာန်သည် သူ(မုဟမ္မဒ်)ကိုယ်တိုင် ကြံစည် လီဆယ်ထားသောအရာ ဖြစ်သည်ဟူ၍လည်းကောင်း၊ တစ်ခါတစ်ရံ ဤသူ(မုဟမ္မဒ်)သည် လင်္ကာဆရာ ဖြစ်သည်ဟူ၍လည်းကောင်း လျှာတွင် အရိုးမရှိတိုင်း ထင်မိထင်ရာ ပြောဆိုခဲ့ကြလေသည်။

နောက်ဆုံးတွင် ယင်းကာဖိရ်၊ မုရှ်ရစ်က်များက အကယ်၍ ဤသို့မဟုတ်လျှင် ဤသူ(မုဟမ္မဒ်)သည် အတိတ်ခေတ် တမန်တော်များကဲ့သို့ တန်ခိုးတစ်ပါးပါးကို ကျွန်ုပ်တို့ထံ ယူဆောင်လာသင့်သည်ဟု မလိုမုန်းတီးသောစိတ်ဖြင့် ဗွတ်မိုတ်၍ ပြောဆိုခဲ့ကြလေသည်။

အမှန်မှာ တမန်တော်မြတ်သည် အတိတ်ခေတ် တမန်တော်များ၏ တန်ခိုးများနှင့် မခြား၊ များစွာသော တန်ခိုးများကို ပြသတော်မူခဲ့ပေပြီ။ အထူးသဖြင့် ကမ္ဘာတစ်သက် တည်ရှိမည့် ကုရ်အာန်ကျမ်းမြတ်ကိုလည်း တန်ခိုးအဖြစ် ပြသခဲ့ချေပြီ။ စိတ်စေတနာ ဖြူစင်စွာဖြင့် အမှန်တရားကို နာယူလိုသူများအဖို့ ဤသည့် တန်ခိုးများသည် လိုသည်ထက်ပင် ပို၍နေပေသည်။

ယင်း ကာဖိရ်၊ မုရှ်ရစ်က်များ ကိုယ်တိုင်ကလည်း ဤကုရ်အာန်သည် ပဋ္ဌလက်မဟုတ်၊ ဂယောင်ဂယက် အိပ်မက်မဟုတ်၊ လင်္ကာမဟုတ်သည်ကို စိတ်အတွင်းမှ သိကြပေသည်။ သို့တစေလည်း "ကျားကျား-မီးယပ်" ဟု ဆိုသူများအဖို့ကား အကျိုးရှိမည်မဟုတ်ပေ၊ ၎င်းတို့အဖို့ ငရဲမီးမှအပ အခြားဆေး မရှိတော့ပေ။

مَآ اٰمَنَتْ قَبْلَهُمْ مِّنْ قَرْيَةٍ اَهْلَكْنٰهَا ۚ اَفَهُمْ يُؤْمِنُوْنَ ۝٦

၆။ ၎င်းတို့အလျှင် ငါအရှင်မြတ် ပျက်စီးစေတော်မူခဲ့သောမည်သည့်မြို့ရွာ(မှ မြို့သူရွာသားများ)မျှပင် (တန်ခိုးများကို တွေ့မြင်ကြပါလျှက်နှင့်ပင်) သက်ဝင်ယုံကြည်ခဲ့ကြသည်မဟုတ်ပေ။ သို့ဖြစ်ပေရာ ဤသူတို့သည် သက်ဝင်ယုံကြည်ကြဦးမည်လော။ ၁

وَمَآ اَرْسَلْنَا قَبْلَكَ اِلَّا رِجَالًا نُّوْحِيْٓ اِلَيْهِمْ فَسْــَٔلُوْٓا اَهْلَ الذِّكْرِ اِنْ كُنْتُمْ لَا تَعْلَمُوْنَ ۝٧

၇။ စင်စစ် ငါအရှင်မြတ်သည် အသင့် အလျှင်ကလည်း ယောကျ်ားများကိုသာလျှင် (ရစူလ်တမန်တော်များအဖြစ်) စေလွှတ်တော်မူခဲ့၏။ ငါအရှင်မြတ်သည် ၎င်းတို့ထံ "ဝဟ်ယ်" အမိန့်တော်ကို ပို့တော်မူလေသည်။ သို့ဖြစ်ပေရာ အကယ်၍ အသင်တို့သည် (မိမိကိုယ်တိုင်)မသိကြလျှင် (ရှေး)ကျမ်းဂန်ရရှိသူများအား မေးမြန်း(၍ ကြည့်)ကြလေကုန်။ ၂

---

(၁) အလ္လာဟ်အရှင်မြတ်သည် အတိတ်ခေတ်ရှိ အမျိုးသားတို့အား ၎င်းတို့ တောင်းဆိုခဲ့ကြသော တန်ခိုးများကို ထင်ရှားစွာ ပြသတော်မူခဲ့သည်။ ထိုအမျိုးသားများသည် ယင်းသည့်တန်ခိုးများကို မျက်ဝါးထင်ထင် တွေ့မြင်ကြရသောအခါ သွေဖည်မြဲ သွေဖည်သွားခဲ့ကြပေသည်။ ထိုအခါ အလ္လာဟ်အရှင်မြတ်သည် မိမိ၏ စွန္နတ်တော်အတိုင်း ယင်းအမျိုးသားတို့အား ကွပ်မျက် ဖျက်ဆီးပစ်တော်မူခဲ့လေပြီ။

ဤ မုရှ်ရစ်က်များသည်လည်း ၎င်းတို့အား ၎င်းတို့တောင်းဆိုသော တန်ခိုးများကို ပြသတော်မူပါက အတိတ်ခေတ် အမျိုးသားများကဲ့သို့ပင် ယုံကြည်ကြမည် မဟုတ်ပေ၊ သို့မယုံကြည်ကြပါက အတိတ်ခေတ် အမျိုးသားများကဲ့သို့ပင် ကွပ်မျက်ဖျက်ဆီးခြင်း ခံကြရပေမည်။ သို့ရာတွင် အလ္လာဟ်အရှင်မြတ်သည် မိမိ၏ "ဟိက်မတ်" ရွှေဉာဏ်တော်အရ ၎င်းတို့အား လောလောဆယ် ကွပ်မျက်ဖျက်ဆီးတော် မမူလိုသေးပေ။ ထို့အတွက် ၎င်းတို့အား ခေတ္တ လျစ်လျူပြုထားတော်မူခြင်းသာ ဖြစ်ပေသည်။

(၂) ကာဖိရ်၊ မုရှ်ရစ်က်များက တမန်တော်နှင့် ပတ်သက်၍ "ဤသူ(မုဟမ္မဒ်)သည် အသင်တို့ကဲ့သို့ သာမန်လူသားတစ်ဦးသာ ဖြစ်သည်" ဟု ဆိုခဲ့ကြသည်။

ဤအာယတ်တော်တွင် ၎င်းတို့၏ အဆိုပါ ပြောဆိုချက်နှင့် စပ်လျဉ်း၍ ဖြေကြားတော်မူသည်မှာ တမန်တော်မြတ်အလျှင် အလ္လာဟ်အရှင်မြတ် စေလွှတ်တော်မူခဲ့သမျှသော တမန်တော်များသည်လည်း လူသားယောကျ်ားများသာ ဖြစ်ခဲ့ကြပေသည်။ ယင်းတမန်တော်များသည် ကောင်းကင်တမန်များ မဟုတ်ခဲ့ကြပေ။

ဤမျှ ထင်ရှားကျော်ကြားသော သတင်းစကားကိုပင် ဤကာဖိရ်၊ မုရှ်ရစ်က်များ မသိရှိကြပါက ၎င်းတို့နှင့် အဆက်အသွယ်ရှိသော အတိတ်ခေတ်ကျမ်းဂန်ရ လူမျိုးများ ဖြစ်ကြသော ယဟူဒီ၊ နဆွာရာနီများအား မေးကြည့်သင့်ကြပေသည်။

وَمَا جَعَلْنٰهُمْ جَسَدًا لَّا يَأْكُلُوْنَ الطَّعَامَ وَمَا كَانُوْا خٰلِدِيْنَ ⑧

၈။ ၎င်းပြင် ငါအရှင်မြတ်သည် ယင်း (ရစူလ်တမန်တော်)တို့အား အစာအဟာရ စား(သောက်)ခြင်း မပြုကြသောခန္ဓာကိုယ်များ(အဖြစ်) ပြုလုပ်(ဖန်ဆင်း)တော်မူခဲ့သည်လည်း မဟုတ်ပေ။ ထို (ရစူလ်တမန်တော်)များသည် (အသက်သေဆုံးခြင်းမရှိဘဲ) အမြဲထာဝရ (အသက်ရှင်)နေသူများလည်း မဖြစ်ခဲ့ကြချေ။

ثُمَّ صَدَقْنٰهُمُ الْوَعْدَ فَاَنْجَيْنٰهُمْ وَمَنْ نَّشَآءُ وَاَهْلَكْنَا الْمُسْرِفِيْنَ ⑨

၉။ ထို့နောက် ငါအရှင်မြတ်သည် ထို (ရစူလ်တမန်တော်)များအဖို့ (၎င်းတို့နှင့်ထားရှိတော်မူခဲ့သော) ကတိကို တည်စေတော်မူခဲ့လေသည်။ သို့ဖြစ်ပေရာ ငါအရှင်မြတ်သည် ယင်း(ရစူလ်တမန်တော်)များအားလည်းကောင်း၊ မိမိတို့ အလိုရှိတော်မူသောသူတို့အားလည်းကောင်း၊ ကယ်ဆယ်တော်မူခဲ့လေသည်။ သို့ရာတွင် ငါအရှင်မြတ်သည် စည်းကမ်းကျူးလွန်သူတို့အား ပျက်စီးစေတော်မူခဲ့၏။ ၁

---

(၁) ပွင့်လေသမျှသော တမန်တော်များသည် ကောင်းကင်တမန်များ မဟုတ်ခဲ့ကြပေ။ လူသားများသာ ဖြစ်ခဲ့ကြပေသည်။ လူ့သဘာဝအလျောက် အစာအဟာရများကို စားသုံးမှီဝဲကြသည်သာ ဖြစ်ပေသည်။ ယင်းတမန်တော်များသည် (ဤပစ္စက္ခတွင်) သင်္ခါရတရားနှင့် ကင်းကွာ၍ ထာဝရ တည်ရှိနေကြသည်လည်း မဟုတ်ပေ။

သို့ရာတွင် ယင်းတမန်တော်များ၏ ထူးခြားချက်တစ်ရပ်မှာ ၎င်းတို့သည် အလ္လာဟ်အရှင်မြတ်ထံမှ လူသားတို့အား တရားဓမ္မ ဟောညွှန်ပြရန်အတွက် စေလွှတ်ခြင်း ခံကြရသော ပုဂ္ဂိုလ်မွန်၊ ပုဂ္ဂိုလ်မြတ်များ ဖြစ်ကြပေသည်။ ၎င်းတို့ထံသို့ အလ္လာဟ်အရှင်မြတ်ထံတော်မှ အချိန်အခါ အားလျော်စွာ (ဝဟီ) အမိန့်တော်များ ကျရောက်လာပေသည်။ အလ္လာဟ်အရှင်မြတ်သည် အခြေအနေအရ သက်သေလက္ခဏာတော်အဖြစ် ယင်းတမန်တော်များမှ တစ်ဆင့် အချို့တန်ခိုးပြာဋိဟာများကိုလည်း ပြသတော်မူပေသည်။

အမြင်အားဖြင့် တမန်တော်များသည် သာမန်လူသားများနည်းတူ အားအင်ချည့်နဲ့ကြသည်သာ ဖြစ်ပေသည်။ ထိုအရှင်မြတ်သည် ယင်းတမန်တော်များအား ကာကွယ်ထိန်းသိမ်း ကူညီတော်မူမည့်အကြောင်း၊ ရန်သူများအား အချိန်တန်လျှင် ပြစ်ဒဏ် ခတ်တော်မူမည့်အကြောင်း ကတိပေးတော်မူသည့်အတိုင်း၊ နောက်ဆုံးတွင် အလ္လာဟ်အရှင်မြတ်သည် ယင်းတမန်တော်များနှင့် ၎င်းတို့၏ နောက်လိုက် တပည့်သားတို့အား ကယ်တင်၍ ရန်သူတို့အား ကွပ်မျက်တော်မူသည်သာ ဖြစ်သည်။ ဤကား ကမ္ဘာ့သမိုင်းတွင် အထင်အရှားပင်။ သို့ဖြစ်ပေရာ ကာဖိရ်၊ မုရှ်ရစ်က်များသည် အတိတ်ခေတ် လူမျိုးတို့၏ ဖြစ်စဉ်ဖြစ်ရပ်များမှ သင်ခန်းစာယူ၍ အချိန်မီ မိမိတို့ကိုယ်ကို ပြုပြင်ပြောင်းလဲသင့်ကြပေပြီ။

لَقَدْ أَنزَلْنَآ إِلَيْكُمْ كِتَٰبًا فِيهِ
ذِكْرُكُمْ ۖ أَفَلَا تَعْقِلُونَ ١٠

၁၀။ မလွဲကေန် ငါအရှင်မြတ်သည် အသင်တို့ထံ အကြင်ကဲ့သို့သော ကျမ်းဂန်တစ်စောင်ကို ပေးသနားတော်မူခဲ့ပြီးဖြစ်၏။ ယင်းကျမ်းဂန်တွင် အသင်တို့အား သတိပေး နှိုးဆော်ချက်(များ)ပါရှိ၏။ သို့ပါလျက် အသင်တို့သည် မသိ နားမလည်ကြလေသလော။

وَكَمْ قَصَمْنَا مِن قَرْيَةٍ
كَانَتْ ظَالِمَةً وَأَنشَأْنَا
بَعْدَهَا قَوْمًا ءَاخَرِينَ ١١

၁၁။ စင်စစ် ငါအရှင်မြတ်သည် များစွာသော ကျူးလွန်လျက်ရှိခဲ့သောမြို့ရွာများကို ပျက်စီးစေတော်မူခဲ့၏။ ၎င်းပြင် ယင်းမြို့ရွာများ (ပျက်စီးသွားပြီး) နောက်တွင် ငါအရှင်မြတ်သည် အခြားသောလူမျိုးများကို ပေါ်ထွန်းစေတော်မူခဲ့၏။

فَلَمَّآ أَحَسُّوا۟ بَأْسَنَآ إِذَا
هُم مِّنْهَا يَرْكُضُونَ ١٢

၁၂။ သို့ဖြစ်ပေရာ ယင်းမြို့ရွာသားတို့သည် ငါအရှင်မြတ်၏ ပြစ်ဒဏ် (သက်ရောက်လာသည်)ကို သိမြင်ကြသောအခါ ရုတ်တရက် ၎င်းတို့သည် ယင်းမြို့ရွာများမှ ထွက်ပြေးကြကုန်၏။

لَا تَرْكُضُوا۟ وَٱرْجِعُوٓا۟ إِلَىٰ
مَآ أُتْرِفْتُمْ فِيهِ وَمَسَٰكِنِكُمْ
لَعَلَّكُمْ تُسْـَٔلُونَ ١٣

၁၃။ (ထိုအခါ ကောင်းကင်တမန်များက ၎င်းတို့အားပြက်ရယ်သောအားဖြင့်) “အသင်တို့သည် မပြေးကြကုန်လင့်။ အသင်တို့သည် စည်းစိမ်အဖြစ် ချီးမြှင့်ပေးသနားခြင်းခံခဲ့ကြရသော ဥစ္စာပစ္စည်းများ(ရှိရာ)သို့လည်းကောင်း၊ မိမိတို့ နေအိမ်များသို့လည်းကောင်း၊ ပြန်ခဲ့ကြလေကုန်၊ အသင်တို့သည် မေးမြန်းခြင်းခံကြရသည်၊” (ဟု ပြောဆိုခဲ့ကြကုန်၏)။ [၁]

---

(၁) အလ္လာဟ်အရှင်မြတ်၏ တရားဒေသနာတော်များကို သွေဖည်ငြင်းဆန် မနာခံဘဲ၊ ကျူးကျော်စော်ကားလျက်ရှိခဲ့သော မြို့ရွာသားများသည် ပြစ်ဒဏ်တော် သက်ရောက်လာသည်ကို တွေ့မြင်ကြသောအခါ၊ မိမိတို့၏မြို့ရွာများမှ ထွက်ပြေးတိမ်းရှောင်ခဲ့ကြသည်။

ယင်းသို့ ထွက်ပြေးတိမ်းရှောင်သူတို့အား အလ္လာဟ်အရှင်မြတ်၏ ဘက်တော်မှ ပြောကြားမည်မှာ- အသင်တို့ အဘယ်သို့ ထွက်ပြေးကြသနည်း။ ထွက်မပြေးကြနှင့်၊ မိမိတို့ စည်းစိမ်နှင့် နေထိုင်ခဲ့ကြသော မြို့ရွာများသို့ ပြန်သွားကြ၊ ထိုမြို့ရွာများတွင် အသင်တို့ စုဆောင်းထားသော ဥစ္စာပစ္စည်း အမြောက်အမြား ➢➢

قَالُوا يٰوَيْلَنَآ إِنَّا كُنَّا ظٰلِمِينَ ⑭

၁၄။ (ထိုအခါ) ယင်းမြို့သူရွာသားတို့က "ဩော်- ဖြစ်မှ ဖြစ်ရလေခြင်း၊ ဧကန်စင်စစ် ကျွန်ုပ်တို့သည် သာလျှင် မတရားမှုကို ကျူးလွန်သူများ ဖြစ်ခဲ့ကြ သည်တကား" ဟု ပြောဆို (ညည်းညူမြည်တမ်း) ခဲ့ကြကုန်၏။

فَمَا زَالَتْ تِّلْكَ دَعْوٰىهُمْ حَتّٰى جَعَلْنٰهُمْ حَصِيدًا خٰمِدِينَ ⑮

၁၅။ ၎င်းတို့၏ ထို ဟစ်အော်မြည်တမ်းမှုသည် (ဆက်လက်၍) ရှိမြဲအတိုင်းပင်ရှိနေခဲ့၏။ နောက်ဆုံး တွင် ငါအရှင်မြတ်သည် ၎င်းတို့အား ရိတ်သိမ်းပြီး ဖြစ်သော လယ်ယာကို ငြိမ်းသွားသော မီး(ကဲ့သို့) ပြုလုပ်တော်မူခဲ့ပေသတည်း။

وَمَا خَلَقْنَا السَّمَآءَ وَالْأَرْضَ وَمَا بَيْنَهُمَا لٰعِبِينَ ⑯

၁၆။ စင်စစ် ငါအရှင်မြတ်သည် မိုးကောင်းကင်ကို လည်းကောင်း၊ ပထဝီမြေကိုလည်းကောင်း၊ ယင်း (မိုးကောင်းကင်နှင့်ပထဝီမြေ) နှစ်ခု၏အကြား၌ ရှိ သည်တို့ကို လည်းကောင်း၊ ကစားသူအဖြစ် (အပျင်း ပြေ) ဖန်ဆင်းထားတော်မူသည် မဟုတ်ပေ။ ၁

---

➤➤ ရှိပေသည်။ ထိုမြို့ရွာများတွင် အသင်တို့အား အချို့က "လူကြီးမင်းများ မည်သို့မည်ပုံ ဖြစ်ကြပါသနည်း။ လူကြီးမင်းများ၏ အိုးအိမ်တိုက်တာ ဂေဟာပစ္စည်း ခြွေရံသင်းပင်းများ အသို့ဖြစ်သွားကြသနည်း။ အလ္လာဟ် အရှင်မြတ် ပြုထားတော်မူသော ကျေးဇူးတော်များကို အဘယ်မျှ ကျေးဇူးဆပ်နိုင်ခဲ့ကြပါသနည်း။ သို့မဟုတ် လူကြီးမင်းများသည် ကျွန်ုပ်တို့၏အကြီးအကဲများ ဖြစ်ကြပါသည်။ ကျွန်ုပ်တို့သည် အရေးကိစ္စ အဝဝတွင် လူကြီးမင်းများအား မှီခိုအားထားကြရပါသည်။ မိမိတို့၏ မြို့ရွာများကို စွန့်ခွာပြီး အရပ်တစ်ပါးသို့ ရွှေ့ပြောင်း မသွားကြပါနှင့်။ မိမိတို့ စည်းစိမ်နှင့်နေထိုင်ခဲ့ကြသော မိမိတို့၏ မြို့ရွာများသို့ ပြန်ကြွကြပါ"ဟု မေးကောင်း မေးကြပါလိမ့်မည်။

အမှန်မှာ ထိုမြို့ရွာများသည် ပြစ်ဒဏ်တော်သင့် ပျက်စီးခြင်းကြီးမလှ ပျက်စီးသွားချေပြီ။ ထိုမြို့ရွာများတွင် အိုးအိမ်တိုက်တာ ဂေဟာပစ္စည်းဥစ္စာဟူ၍ စိုးစဉ်းမျှ မရှိတော့ပြီ။ ခြွေရံသင်းပင်းဟူ၍လည်း တစ်ဦးတစ်ယောက်မျှ မရှိတော့ပြီ။ ဤသည် စောင်းချိတ်နာကျည်း ထိခိုက်စေသည့် သဘောဖြင့် မိန့်ဆိုထားတော် မူခြင်းသာ ဖြစ်သည်။

(၁) **<u>ဤစကြာဝဠာကြီးကို အချည်းနှီး ဖန်ဆင်းတော်မူသည် မဟုတ်။</u>**

ဤထူးထွေ၊ ဆန်းပြား၊ ခန့်ညားလှသော စကြာဝဠာကြီးသည် မိမိလိုအလျောက် ဖြစ်ပေါ်ခဲ့သည်လော။ မည်သူ ဖန်ဆင်းထားသနည်း။ ယင်းသို့ ဖန်ဆင်းရာတွင် ရည်ရွယ်ချက်ရှိသလော။ အချည်းနှီးလော၊ ➤➤

لَوْ اَرَدْنَآ اَنْ نَّتَّخِذَ لَهْوًا لَّاتَّخَذْنٰهُ مِنْ لَّدُنَّآ ۖ اِنْ كُنَّا فٰعِلِيْنَ ﴿١٧﴾

၁၇။ အကယ်၍သာ ငါအရှင်မြတ်သည် အပျင်းပြေ ကစားစရာကိုသာ ပြုလုပ်ရန် ရည်စူးတော်မူခဲ့ပါလျှင် ငါအရှင်မြတ်သည် ယင်း ကစားစရာကို ဧကန်မုချ မိမိအထံတော်၌ ရှိသည်တို့အနက်မှပင် ပြုလုပ်ထား တော်မူပေမည်။ အကယ်၍သာ ငါအရှင်မြတ်သည် ပြုလုပ်တော်မူမည့်အရှင် ဖြစ်တော်မူခဲ့ပါလျှင်။

بَلْ نَقْذِفُ بِالْحَقِّ عَلَى الْبَاطِلِ فَيَدْمَغُهٗ فَاِذَا هُوَ زَاهِقٌ ۚ وَلَكُمُ الْوَيْلُ مِمَّا تَصِفُوْنَ ﴿١٨﴾

၁၈။ ထိုသို့ အလျှင်းမဟုတ်။ စင်စစ်မှာကား ငါ အရှင်မြတ်သည် အမှန်ကို အမှားပေါ်၌ပစ်ပေါက်တော် မူ၏။ ထိုအခါ ယင်းအမှန်သည် ထိုအမှား၏ဦးနှောက် ကို ထွက်စေ၏။ ထိုအခါ ယင်းအမှားသည် ရုတ်တရက် ပျောက်ပျက် သွားလေ၏။ စင်စစ် အသင်တို့၌ မိမိတို့ ၏ ကြံဖန်စွပ်စွဲချက်များကြောင့် ပျက်စီးခြင်းသည် ရှိပေမည်။

وَلَهٗ مَنْ فِى السَّمٰوٰتِ وَالْاَرْضِ ۗ وَمَنْ عِنْدَهٗ لَا يَسْتَكْبِرُوْنَ عَنْ عِبَادَتِهٖ وَلَا يَسْتَحْسِرُوْنَ ﴿١٩﴾

၁၉။ စင်စစ်သော်ကား မိုးကောင်းကင်များ၌လည်း ကောင်း၊ ပထဝီမြေ၌လည်းကောင်း၊ ရှိသူအားလုံး တို့သည် ထိုအရှင်မြတ် ပိုင်ဆိုင်တော်မူသောသူများပင် ဖြစ်ကြကုန်၏။ ၎င်းပြင် ထိုအရှင်မြတ်၏အပါးတော်၌ ရှိနေသူတို့သည် ထိုအရှင်မြတ်အား ခစားခြင်းမှ မာန် ထောင်လွှားကြသည် မဟုတ်ပေ။ မောပန်းကြသည် လည်း မရှိပေ။

---

➤➤ အမှန်မှာ ဤစကြာဝဠာကြီးသည် မိမိအလိုအလျောက် ဖြစ်ပေါ်လာခဲ့သည်မဟုတ်။ တန်ခိုးတော်အနန္တ၊ ဉာဏ်တော်အနန္တနှင့် ပြည့်စုံတော်မူသော၊ တစ်ဆူတည်း ဖြစ်တော်မူသော အလ္လာဟ်အရှင်မြတ်က ဖန်ဆင်းထားတော်မူသော စကြာဝဠာကြီးသာဖြစ်သည်။

ထိုအရှင်မြတ်သည် ဤစကြာဝဠာကြီးကို ရည်ရွယ်ချက်မပါ၊ အကြောင်းမဲ့ အကျိုးမဲ့ အချည်းနှီး ဖန်ဆင်းထားတော် မူသည်မဟုတ်။ အမှန်မှာ ဤပစ္စက္ခဘဝသည် အကြောင်းဖြစ်သည်။ နောင်တမလွန်ဘဝသည် အကျိုးဖြစ်သည်။ ဤပစ္စက္ခဘဝတွင် ရှိနေကြစဉ် ပြုမူကျင့်ကြံခဲ့ကြသော အရေးကိစ္စအဝဝနှင့် စပ်လျဉ်း၍ နောင်တမလွန် ဘဝတွင် စစ်ကြောမေးမြန်းခြင်း ခံကြရမည်။ ကောင်းကျိုး ဆိုးကျိုးများကို တရားသဖြင့် ခံစားကြရမည်။ ကြည့်-ကုရ်အာန် (၁၆:၈၅။၃၈:၂၇။ ၄၆:၃။ ၂၃:၁၁၅)

يُسَبِّحُونَ الَّيْلَ وَالنَّهَارَ لَا يَفْتُرُونَ ﴿٢٠﴾

၂၀။ ယင်း (အပါးတော်၌ ရှိသူတို့သည်) (ထို အရှင်မြတ်) စင်ကြယ် သန့်ရှင်းတော်မူကြောင်းကို နေ့ညဥ့်မပြတ် မြွက်ဆိုဘာဝနာ စီးဖြန်းလျက်ရှိကြကုန်၏။ ရပ်တန့်ကြသည်ဟူ၍လည်း မရှိပေ။ ၁

أَمِ اتَّخَذُوا آلِهَةً مِّنَ الْأَرْضِ هُمْ يُنشِرُونَ ﴿٢١﴾

၂၁။ သို့ပါလျက်၎င်း(မုရှ်ရိက်)တို့သည် ပထဝီမြေမှ ဖြစ်သောအရာများကို ကိုးကွယ်ရာများ ပြုလုပ်ထားကြလေသလော၊ ယင်းအရာများသည် ရှင်ပြန်စေနိုင်ကြသည်(လော)။

لَوْ كَانَ فِيهِمَا آلِهَةٌ إِلَّا اللَّهُ لَفَسَدَتَا ۚ فَسُبْحَانَ اللَّهِ رَبِّ الْعَرْشِ عَمَّا يَصِفُونَ ﴿٢٢﴾

၂၂။ အကယ်၍သာ ယင်း(မိုးကောင်းကင်နှင့်ပထဝီမြေ)နှစ်ခုတွင် အလ္လာဟ်အရှင်မြတ်အပြင် အခြား (ထာဝရတည်ရှိသော) ကိုးကွယ်ရာများ ရှိခဲ့ကြပါမူ (မိုးကောင်းကင်နှင့် ပထဝီမြေ) နှစ်ခုစလုံးမှာ မလွဲဧကန် *ပျက်စီးခဲ့ပြီးဖြစ်ကြပေမည်။* ၂ စင်စစ်သော်ကား "အရ်ရှ်" ပလ္လင်တော်ကို စိုးပိုင်တော်မူသော အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့ ကြံဖန် စွပ်စွဲကြသည်တို့မှ (လုံးဝ) စင်ကြယ်သန့်ရှင်း အပြစ်ကင်းတော်မူ၏။

---

(၁) မိုး၊မြေ၊စကြာဝဠာအဝှမ်းရှိ သက်ရှိသက်မဲ့ အားလုံးတို့ကို အလ္လာဟ်အရှင်မြတ်သာလျှင် ပိုင်ဆိုင်တော်မူသည်။ ခပ်သိမ်းကုန်သော အရာအားလုံးတို့သည် ထိုအရှင်မြတ် သတ်မှတ်ထားတော်မူသော သဘာဝဓမ္မကို လိုက်နာလျက်ရှိကြပေသည်။ ကောင်းကင်တမန်များသည် အလ္လာဟ်အရှင်မြတ်၏ထံတော်ပါးတွင် အမြဲတစေ ခစားခွင့် ချီးမြှင့်ထားတော်မူခြင်း ခံကြရပါလျက် မောက်မာပလွှားခြင်း အလျှင်းမရှိဘဲ ထိုအရှင်မြတ်အား အမြဲတစေ ခဝပ်ကြပေသည်။ မပျင်းကြပေ၊ မမောကြပေ၊ မဆိုင်းကြပေ။ အခါခပ်သိမ်း ထိုအရှင်မြတ်အား ခဝပ်လျက်ရှိကြပေသည်။

လူသားတို့သည် အခြားလုပ်ငန်းဆောင်တာများကို လုပ်ဆောင်ကြသော်လည်း အသက်ရှူမပျက်ကြပေ။ ထို့အတူ ကောင်းကင်တမန်တော်များသည် မည်သည့်တာဝန်ကိုပင် ထမ်းဆောင်နေကြရလင့်ကစား အလ္လာဟ်အရှင်မြတ်ကိုမူ တစ်စက္ကန့်မျှပင်မမေ့ကြပေ။ အခါခပ်သိမ်း အလ္လာဟ်အရှင်မြတ်အား ခဝပ်လျှက်၊ တတ်စ်ဗီဟ် ဘာဝနာစီးဖြန်းလျှက် ရှိကြပေသည်။ တစ်နည်းအားဖြင့် တတ်စ်ဗီဟ် ဘာဝနာသည် ကောင်းကင်တမန်တို့၏ အာဟာရပင်ဖြစ်လျှက် ရှိချေသည်။ ထိုသို့သော ကောင်းကင်တမန်များသည်ပင် အလ္လာဟ်အရှင်မြတ်အား အခါခပ်သိမ်း အာရုံပြုကြလျက်ရှိကြပေရာ အပြစ်မကင်းသော လူသားတို့သည် ထိုအရှင်မြတ်အား မေ့နေရန် အကြောင်းပင်မရှိပေ။

## ၂ ကိုးကွယ်ရာနှစ်ပါး မဖြစ်နိုင်၊

အမှန်တကယ် မှချကိုးကွယ်ရာ အရှင်သခင်သည် တစ်ပါးတည်းသာလျှင် ဖြစ်နိုင်ပေသည်။ နှစ်ပါး မဖြစ်နိုင်၊ အများအပြား မဖြစ်နိုင်။ အဘယ်ကြောင့်ဆိုသော် ဆည်းကပ်ကိုးကွယ်မှုသည် အဘက်ဘက်တွင် ပြည့်ဝစုံလင်သော အရှင်သခင်အဖို့သာ ဖြစ်နိုင်ပေသည်။ ထိုအရှင်မြတ်သခင်သည် ချို့တဲ့မှုအပေါင်းမှ လုံးဝ ကင်းစင်ရပေမည်။ တန်ခိုးတော်အနန္တ၊ ဉာဏ်တော်အနန္တနှင့် ပြည့်စုံရပေမည်။

ထိုအရှင်သခင်၌ ချို့တဲ့မှု၊ မပြည့်စုံမှု၊ မပြုစွမ်းနိုင်မှု၊ သူတစ်ပါး၏လွှမ်းမိုးမှု၊ နှောင့်ယှက်မှု၊ ဟန့်တားမှု၊ ယှဉ်ပြိုင်မှုဟူ၍ အလျှင်းမရှိရပေ။ ထိုသို့ ချို့တဲ့မှုအပေါင်းမှ ကင်းစင်၍ တန်ခိုးတော် အနန္တ၊ ဉာဏ်တော်အနန္တနှင့် ပြည့်စုံတော်မူသော အရှင်သခင်အား ကျွန်ုပ်တို့သည် "အလ္လာဟ်" ဟူ၍ ခေါ်ဝေါ်သတကြသည်။

အကယ်၍ ဤစကြာဝဠာတွင် ကိုးကွယ်ရာနှစ်ပါးရှိသော်၊ ထိုကိုးကွယ်ရာနှစ်ပါးသည် ဂုဏ်ရည်တူ ဖြစ်ကြရပေမည်။ သို့ဖြစ်လျှင် တွေးတောဆင်ခြင်အပ်သည်မှာ ထိုကိုးကွယ်ရာနှစ်ပါးသည် ဤစကြာဝဠာကြီးကို ဖန်ဆင်းမှု၊ စီမံခန့်ခွဲမှုများတွင် အချင်းချင်း ညီညွတ်ကြသလော၊ သို့မဟုတ် သဘောကွဲလွဲကြသလော။

အချင်းချင်း ညီညွတ်ကြသည်ဆိုပါက စဉ်းစားဆင်ခြင်အပ်သည်မှာ

(က) အဆိုပါ ကိုးကွယ်ရာ တစ်ပါးတိုင်းသည် ဤစကြာဝဠာကြီးကို မိမိတစ်ပါးတည်း မဖန်ဆင်းနိုင်၍ နှစ်ပါးပူးပေါင်းပြီး ဖန်ဆင်းကြသလော။ သို့ဆိုလျှင် အဆိုပါကိုးကွယ်ရာအနက် မည်သူမျှ လုံးဝပြည့်စုံသော ကိုးကွယ်ရာမဖြစ်နိုင်ပေ။

(ခ) အကယ်၍ အဆိုပါ ကိုးကွယ်ရာနှစ်ပါးအနက် တစ်ပါးတိုင်း တစ်ပါးတိုင်းသည် ဤစကြာဝဠာကြီးကို မိမိတစ်ပါးတည်း ဖန်ဆင်းနိုင်ပါက စီမံခန့်ခွဲနိုင်ပါက အခြားတစ်ပါးသည် အလုပ်မဲ့၊ တာဝန်မဲ့၊ အချည်းနှီး ဖြစ်ရပေမည်။ အပိုသက်သက်ဖြစ်နေပေမည်။ မရှိမဖြစ်သော ကိုးကွယ်ရာသာလျှင် ကိုးကွယ်ရာ ဖြစ်နိုင်ပေသည်။ အချည်းနှီးဖြစ်သော၊ အပိုသက်သက်ဖြစ်သော ကိုးကွယ်ရာသည် အမှန်တကယ် မှချကိုးကွယ်ရာ အသို့လျှင် ဖြစ်နိုင်အံ့နည်း။

အကယ်၍ အဆိုပါ ကိုးကွယ်ရာနှစ်ပါးသည် အချင်းချင်း သဘောထားကွဲလွဲကြသော် အချင်းချင်း ယှဉ်ပြိုင်ကြပေမည်။ သို့ယှဉ်ပြိုင်ရာတွင် တစ်ပါးပါးသည် ရှုံးနိမ့်ချေမည်။ရှုံးနိမ့်သော ကိုးကွယ်ရာသည်အမှန်တကယ် မှချကိုးကွယ်ရာ အသို့လျှင်ဖြစ်နိုင်အံ့နည်း။

အကယ်၍ ယှဉ်ပြိုင်ရာတွင် နှစ်ပါးစလုံးသည် သူမနိုင်၊ ငါမရှုံးဖြစ်နေပြီး၊ အချင်းချင်း အင်အားချင်း လုံးဝတူညီနေကြပါသော် တစ်ပါးတိုင်း တစ်ပါးတိုင်းသည် မိမိအသာဆန္ဒအလျောက် ခြယ်လှယ်နိုင်ရန်အတွက် အခြားတစ်ပါးကို တိုက်ဖျက်ချေမှုန်းရန် ကြိုးစားပေမည်။ စကြာဝဠာကြီးသည် ကိုးကွယ်ရာနှစ်ပါးတို့၏ စစ်တလင်း ဖြစ်သွားပေမည်။

ယင်းသို့ ကိုးကွယ်ရာ နှစ်ပါးအချင်းချင်း စစ်တလင်းခင်နေကြလျှင် ပထမသော် တစ်စုံတစ်ခုမျှ ဖြစ်ထွန်းနိုင်မည် မဟုတ်ပေ။ ဖြစ်ထွန်းပြီးသော အရာများသည်လည်း ကျွဲနှစ်ကောင်ခတ်သည့်ကြား မြေဇာပင်မခံနိုင်သကဲ့သို့ အရာခပ်သိမ်းတို့သည် လုံးဝပျက်ပြုန်း ဆိတ်သုဉ်းသွားပေမည်။ (ယခုသော်ကား ကမ္ဘာစက်ယန္တရားကြီးသည် စနစ်တကျ လှုပ်ရှားသွားလာ လည်ပတ်လျက်ရှိပေသည်)။

لَا يُسْـَٔلُ عَمَّا يَفْعَلُ وَهُمْ
يُسْـَٔلُونَ ﴿٢٣﴾

၂၃။ ထိုအရှင်မြတ်သည် မိမိပြုလုပ်တော်မူသောကိစ္စများနှင့် စပ်လျဉ်း၍ စစ်ဆေးမေးမြန်းခြင်း ခံရတော်မူမည် မဟုတ်ပေ။ သို့ရာတွင် ၎င်းတို့မူကား (မိမိတို့ ပြုလုပ်ကြသော အမှုကိစ္စတို့နှင့် စပ်လျဉ်း၍) စစ်ဆေးမေးမြန်းခြင်းကို ခံကြရပေမည်။

أَمِ اتَّخَذُوا مِن دُونِهِۦٓ
ءَالِهَةً ۖ قُلْ هَاتُوا
بُرْهَانَكُمْ ۖ هَٰذَا
ذِكْرُ مَن مَّعِىَ وَذِكْرُ
مَن قَبْلِى ۗ بَلْ
أَكْثَرُهُمْ لَا يَعْلَمُونَ
ٱلْحَقَّ ۖ فَهُم مُّعْرِضُونَ ﴿٢٤﴾

၂၄။ သို့ပါလျက် ယင်း(မုရှ်ရစ်က်)တို့သည် ထိုအရှင်မြတ်အပြင် ကိုးကွယ်ရာများ ပြုလုပ်ထားကြသလော။ (အို-နဗီတမန်တော်) အသင်သည် (၎င်းတို့အား ဤသို့)ပြောကြားပါလေ။ (အချင်းတို့) အသင်တို့သည် *မိမိတို့၏သက်သေသာဓကအထောက်အထားများကို ယူဆောင်ခဲ့ကြလေကုန်။*[1] ဤသည် ငါနှင့်အတူ ရှိကြသော သူတို့အား သတိပေး နှိုးဆော်ချက်သည်လည်းကောင်း၊ ငါ၏အလျင် ရှိခဲ့ဖူးသောသူတို့အား သတိပေးနှိုးဆော်ချက်သည်လည်းကောင်း၊ ဖြစ်ချေသည်။ သို့ပါလျက် ထိုသူတို့အနက် အများဆုံးသော သူတို့မှာမူကား အမှန်ကို မသိကြချေ။ သို့ဖြစ်ပေရာ ၎င်းတို့သည် မျက်နှာလွှဲ၍ နေကြကုန်၏။

وَمَآ أَرْسَلْنَا مِن قَبْلِكَ مِن
رَّسُولٍ إِلَّا نُوحِىٓ إِلَيْهِ أَنَّهُۥ
لَآ إِلَٰهَ إِلَّآ أَنَا۠ فَٱعْبُدُونِ ﴿٢٥﴾

၂၅။ စင်စစ် ငါအရှင်မြတ်သည် အသင့်အလျင် စေလွှတ်တော်မူခဲ့သော မည်သည့် ရစူလ်တမန်တော်၏ထံသို့မဆို ကေန်အမှန် ငါအရှင်မှတစ်ပါး ခဝပ်ကိုးကွယ်ရာ အရှင်ဟူ၍ အလျှင်းမရှိပြီ။ သို့ဖြစ်ပေရာ အသင်တို့သည် ငါအရှင်မြတ်အားသာလျှင် ခဝပ်ကိုးကွယ်ကြလေကုန်ဟူ၍ အမိန့်တော် ထုတ်ပြန်ချမှတ်တော်မူခဲ့သည်သာ ဖြစ်သည်။[2]

① အထက်တွင် အမှန်တကယ် မုချ ကိုးကွယ်အပ်သော အရှင်သည် တစ်ပါးတည်းသာ ရှိကြောင်းနှင့် ပတ်သက်၍ ခိုင်လုံသော အထောက်အထားကို မိန့်ဆိုထားတော်မူသည်။ ယခု ဤအာယတ်တော်တွင် ဘုရားအများအပြားကိုးကွယ်ကြသော မုရှ်ရစ်က်တို့အား ဘုရားအများအပြားရှိကြောင်းနှင့် စပ်လျဉ်း၍ အထောက်အထားတစ်စုံတစ်ရာရှိက တင်ပြရန် တောင်းဆိုထား တော်မူသည်။ ➤➤

وَقَالُوا اتَّخَذَ الرَّحْمٰنُ وَلَدًا سُبْحٰنَهٗ ۭ بَلْ عِبَادٌ مُّكْرَمُوْنَ ﴿٢٦﴾

၂၆။ ထိုမှတစ်ပါး ၎င်းတို့က "ရဟ်မာန်" အနန္တကရုဏာတော်ရှင်သည် (မလာအိကဟ် ကောင်းကင်တမန်များအား) သားသမီး ပြုလုပ်တော်မူခဲ့သည်ဟု (စွပ်စွဲ)ပြောဆိုကြကုန်၏။ ထိုသို့ အလျှင်းမဟုတ်၊ စင်စစ်မှာကား(ကောင်းကင်တမန်သည် ထိုအရှင်မြတ်၏သားသမီးများ မဟုတ်ကြချေ။ ထိုအရှင်မြတ်၏) မြင့်မြတ်သော ကျွန်များပင် ဖြစ်ကြကုန်၏။

لَا يَسْبِقُوْنَهٗ بِالْقَوْلِ وَهُمْ بِاَمْرِهٖ يَعْمَلُوْنَ ﴿٢٧﴾

၂၇။ ယင်း(ကောင်းကင်တမန်)တို့မူကား ထိုအရှင်မြတ်၏ရှေ့တော်သို့ကျူး၍ စကားပြောဆိုနိုင်ကြသည် အလျှင်း မဟုတ်ပေ။ ထို့ပြင် ၎င်းတို့သည် ထိုအရှင်မြတ်၏ အမိန့်တော်ကိုသာ (တစ်သွေမတိမ်း) လိုက်နာ ဆောင်ရွက်ကြကုန်၏။

يَعْلَمُ مَا بَيْنَ اَيْدِيْهِمْ وَمَا خَلْفَهُمْ وَلَا يَشْفَعُوْنَ ۙ اِلَّا لِمَنِ ارْتَضٰى وَهُمْ مِّنْ خَشْيَتِهٖ مُشْفِقُوْنَ ﴿٢٨﴾

၂၈။ ထိုအရှင်မြတ်သည် ၎င်းတို့၏ ရှေ့နောက်အကြောင်းကိစ္စ အလုံးစုံတို့ကို (အကြွင်းမဲ့) သိတော်မူ၏။ ထိုမှတစ်ပါး၎င်းတို့သည် ထိုအရှင်မြတ် ကျေနပ်နှစ်သက်တော်မူသော သူမှတစ်ပါး မည်သူ့အဖို့မျှ ကြား၀င် အသနားခံနိုင်ကြမည် မဟုတ်ပေ။ စင်စစ်သော်ကား ၎င်းတို့သည် ထိုအရှင်မြတ်အား ကြောက်ရွံ့ရိုသေခန့်ညားမှုကြောင့် (အမြဲတစေ) ကြောက်ရွံ့လျက်ပင် ရှိကြကုန်၏။

---

➤➤ ဘုရား အများအပြားရှိသည်ဟု မုရှ်ရစ်က်တို့က ပြောဆိုခြင်းမှာ ၎င်းတို့၏ အတွေးအထင်နှင့် မိဘရိုးရာ ထုံးတမ်းစဉ်လာကို မျက်စိမှိတ်၍ လိုက်နာခြင်းသာဖြစ်သည်။ဤအကြောင်းနှင့် စပ်လျဉ်း၍ ၎င်းတို့ထံတွင် အသိပညာနှင့်ယှဉ်သော အထောက်အထား လည်းမရှိ၊ စာပေကျမ်းဂန် အထောက်အထားလည်းမရှိ၊ အထောက်အထားဟူ၍ အလျှင်းမရှိ။

(၂) ပွင့်လေသမျှသော တမန်တော်အားလုံးတို့သည် "တောင်ဟီဒ်" ကိုပင် အခြေခံ၍ အသီးသီး တညီတညွတ်တည်း ဟောကြားခဲ့ကုန်၏။ တမန်တော်မြတ်၏ အွမ္မတ် နောက်လိုက်တပည့်သားများနှင့် အတိတ်ခေတ် တမန်တော်များ၏ နောက်လိုက်တပည့်သားများ သည်လည်း ဤသည့် "တောင်ဟီဒ်"ကိုပင် လက်ခံနာယူ ကျင့်မူခဲ့ကြသည်။

وَمَن يَقُلْ مِنْهُمْ إِنِّىٓ إِلَٰهٌ مِّن دُونِهِۦ فَذَٰلِكَ نَجْزِيهِ جَهَنَّمَ ۚ كَذَٰلِكَ نَجْزِى ٱلظَّٰلِمِينَ ﴿٢٩﴾

၂၉။ စင်စစ် ၎င်းတို့အနက် မည်သူမဆို ကျွန်ုပ်သည်လည်း ထိုအရှင်မြတ်အပြင် ကိုးကွယ်ရာအရှင် (တစ်ပါး)ဖြစ်သည်ဟု ပြောဆိုပါမူ ငါအရှင်မြတ်သည် ၎င်းအားဂျဟန္နမ်ငရဲဘုံ၏ပြစ်ဒဏ်ကို ပေးတော်မူမည်။ ငါအရှင်မြတ်သည် ကျူးလွန်သူတို့အား ဤနည်းအတိုင်းပင် ပြစ်ဒဏ်ပေးတော်မူသည်သာ ဖြစ်သည်။

أَوَلَمْ يَرَ ٱلَّذِينَ كَفَرُوٓا۟ أَنَّ ٱلسَّمَٰوَٰتِ وَٱلْأَرْضَ كَانَتَا رَتْقًا فَفَتَقْنَٰهُمَا ۖ وَجَعَلْنَا مِنَ ٱلْمَآءِ كُلَّ شَىْءٍ حَىٍّ ۖ أَفَلَا يُؤْمِنُونَ ﴿٣٠﴾

၃၀။ စင်စစ် မိုးကောင်းကင်များသည်လည်းကောင်း၊ ပထဝီမြေသည်လည်းကောင်း၊ ပိတ်လျက်ရှိခဲ့သည်။ ထို့နောက် ငါအရှင်မြတ်သည် ယင်း*(မိုးကောင်းကင်နှင့် ပထဝီမြေ)*နှစ်ခုစလုံးကို*ဖွင့်ပေးတော်မူခဲ့သည်။* [၁] (ဤသည်ကို) ကာဖိရ်များ မသိမမြင်ခဲ့ကြလေသလော။ ထို့ပြင် ငါအရှင်မြတ်သည် *ရေဖြင့် သက်ရှိသတ္တဝါ ခပ်သိမ်းကိုဖန်ဆင်းတော်မူခဲ့၏။* [၂] သို့ပါလျက် ၎င်းတို့သည် သင်ဝင်ယုံကြည်ခြင်း မရှိကြလေသလော။

(၁) **မိုးနှင့်မြေများသည် အသို့ရှိခဲ့ကြသနည်း၊**

ဤအာယတ်တော်တွင် ပါရှိသော “ရတ်က်” ဟူသောပုဒ်ကို အချို့က “ဆက်စပ်လျက်ရှိသောအရာ” ဟူ၍လည်းကောင်း၊ အချို့က “ပိတ်လျက်ရှိသော အရာ” ဟူ၍လည်းကောင်း၊ အဓိပ္ပာယ် နှစ်မျိုးနှစ်စား ပြန်ဆိုကြသည်။ အဓိပ္ပာယ်ကွဲပြားရာမှ အနက်သဘောလည်း ကွဲပြားလာခဲ့ပေသည်။ ဤအာယတ်တော်၏ အဖွင့်နှင့် စပ်လျဉ်း၍ အောက်ပါအတိုင်း အဆိုများ တွေ့ရှိရပေသည်။

(က)မိုးနှင့် မြေများသည် မူလအစက ဆက်စပ်လျက် ရှိခဲ့ကြပေသည်။ ထို့နောက်တွင်မှ အလ္လာဟ်အရှင်မြတ်သည် ခွဲခြားတော်မူလိုက်ခြင်း ဖြစ်သည်ဟူ၏။

(ခ) မူလအစက မိုးသည်လည်း တစ်ခုတည်း ဖြစ်ခဲ့၏။ မြေသည်လည်း တစ်ခုတည်း ဖြစ်ခဲ့၏။ ထို့နောက်မှ အလ္လာဟ်အရှင်မြတ်သည် မိုးအထပ်ထပ်၊ မြေအထပ်ထပ် ပြုလုပ်တော်မူခြင်း ဖြစ်သည်ဟူ၏။

(ဂ) အစမူလက မိုးနှင့်မြေသည် ပိတ်လျက်ရှိခဲ့ကြသည်။ (ဝါ) မိုးမှ မိုးရေရွာသွန်းခြင်း မရှိခဲ့ပေ။ မြေမှ ကောက်ပဲသီးနှံများ ပေါက်ရောက်ခြင်း မရှိခဲ့ပေ။ ထို့နောက်သော်မှ အလ္လာဟ်အရှင်မြတ်သည် မိမိ၏ ကျေးဇူးတော်ဖြင့် မိုးနှင့် မြေများကို ဖွင့်ပေးတော် မူလိုက်ခြင်း ဖြစ်သည်။ (ဝါ) မိုးမှ မိုးရေကို ရွာသွန်းချစေတော်မူခဲ့လေသည်။ မြေမှ ကောက်ပဲသီးနှံများကို ပေါက်ရောက်စေတော်မူခဲ့လေသည်။

ကြည့်- ခါဇင်န်။ အိဗ်နုကျရီရ်။

အိဗ်နုကျရီရ်သည် တတိယအဆိုကို ပိုမိုနှစ်သက်သည်။ ဤအာယတ်တော်နှင့် စပ်လျဉ်း၍ အခြားအဆိုများကို သိလိုပါက အိဗ်နုကျရီရ်ကျမ်းကို ရှုပါကုန်။

وَجَعَلْنَا فِي الْأَرْضِ رَوَاسِيَ أَنْ تَمِيدَ بِهِمْ وَجَعَلْنَا فِيهَا فِجَاجًا سُبُلًا لَعَلَّهُمْ يَهْتَدُونَ ﴿٣١﴾

၃၁။ ထိုမှတစ်ပါး ငါအရှင်မြတ်သည် ပထဝီမြေ၌ ယင်းပထဝီမြေသည် ၎င်းတို့နှင့်တကွ လှုပ်ရှား(ယိမ်းယိုင်သွား)ခြင်းမရှိနိုင်ရန် တောင်များကို (ကျောက်ဆူးများအဖြစ်) ချထားတော်မူခဲ့လေသည်။ ထို့ပြင် ငါအရှင်မြတ်သည် ၎င်းတို့လိုရာသို့ ရောက်ရှိနိုင်ကြအံ့သောငှာ ယင်းတောင်များ၌ တောင်ကြားလမ်းများကို လမ်းများအဖြစ် ပြုလုပ်ထားတော်မူခဲ့လေသည်။

وَجَعَلْنَا السَّمَاءَ سَقْفًا مَحْفُوظًا ۖ وَهُمْ عَنْ آيَاتِهَا مُعْرِضُونَ ﴿٣٢﴾

၃၂။ ၎င်းပြင် ငါအရှင်မြတ်သည် မိုးကောင်းကင်ကို (ပြိုပျက်ခြင်းမှ) ထိန်းသိမ်းပြီးဖြစ်သော အမိုး ပြုလုပ်တော်မူခဲ့လေသည်။ သို့ပါလျက် ၎င်းတို့သည် ယင်းမိုးကောင်းကင်ရှိ သက်သေလက္ခဏာများမှ မျက်နှာလွှဲလျက် ရှိကြကုန်၏။

وَهُوَ الَّذِي خَلَقَ اللَّيْلَ وَالنَّهَارَ وَالشَّمْسَ وَالْقَمَرَ ۖ كُلٌّ فِي فَلَكٍ يَسْبَحُونَ ﴿٣٣﴾

၃၃။ စင်စစ် ထိုအရှင်မြတ်သည်ပင် ညဉ့်ကိုလည်းကောင်း၊ နေ့ကိုလည်းကောင်း၊ နေကိုလည်းကောင်း၊ လကိုလည်းကောင်း၊ ဖန်ဆင်းတော်မူခဲ့သော အရှင်ဖြစ်တော်မူ၏။ (ထိုဂြိုဟ်နက္ခတ်) အသီးသီးတို့သည် (မိမိတို့သက်ဆိုင်ရာ) ဂြိုဟ်နက္ခတ်လမ်း အသီးသီးတွင် လှည့်ပတ် သွားလာ လှုပ်ရှားလျက်ပင် ရှိကြကုန်သတည်း။ [၁]

---

(၂) ဤအာယတ်တော်တွင်ရှိသည့် "အလ်မာအ်" ဟူသောပုဒ်သည် မိုးရေ၏ အနက်၌လည်း ဖြစ်နိုင်ပေသည်။ ကလလရေကြည်၏ အနက်၌လည်း ဖြစ်နိုင်ပေသည်။ မိုးရေဟု ယူဆပါက သက်ရှိသတ္တဝါအားလုံးတို့သည် မိုးရေဖြင့် တိုက်ရိုက်ဖြစ်စေ၊ သွယ်ဝိုက်၍ဖြစ်စေ အကျိုးခံစားလျက် ရှိကြသည်မှာ ထင်ရှားလှပေသည်။ ကလလရေကြည်ဟု ယူဆပါက သတ္တဝါအပေါင်းတို့သည် ကလလရေကြည်မှ ဖြစ်ပေါ်လာကြသည်မှာလည်း အထင်အရှားပင်။

(၁) မိုး၊ မြေ၊ နေ၊ လ၊ နေ့၊ ညဉ့် အစရှိသည့် ကမ္ဘာ့တန်ဆာများ တည်နေပုံ၊ သွားလာလှုပ်ရှားနေပုံများကို စဉ်းစားဆင်ခြင် မြော်မြင်ပါက တောင်ဟီဒ်ကို ကောင်းစွာ သဘောပေါက် နားလည်နိုင်ပေသည်။

وَمَا جَعَلْنَا لِبَشَرٍ مِّن قَبْلِكَ الْخُلْدَ ۖ أَفَإِن مِّتَّ فَهُمُ الْخَالِدُونَ ﴿٣٤﴾

၃၄။ စင်စစ် ငါအရှင်မြတ်သည် အသင့်အလျင် မည်သည့် လူသားတစ်ဦး တစ်ယောက်၌မျှပင် သေခြင်းကင်းသည့်အနေကို ပြုလုပ်တော်မမူခဲ့ချေ။ သို့ဖြစ်ပေရာ အကယ်၍ အသင်သည် သေဆုံးခဲ့ပါလျှင် ၎င်းတို့သည် အစဉ်ထာဝရ[၁] နေကြမည့်သူများ ဖြစ်ကြလေသလော။

كُلُّ نَفْسٍ ذَائِقَةُ الْمَوْتِ ۗ وَنَبْلُوكُم بِالشَّرِّ وَالْخَيْرِ فِتْنَةً ۖ وَإِلَيْنَا تُرْجَعُونَ ﴿٣٥﴾

၃၅။ သက်ရှိသတ္တဝါတိုင်းသည် မရဏ သေခြင်း တရား(၏ရသာ)ကို မြည်းစမ်းရမည့်သူများသာ ဖြစ်ကြကုန်၏။ စင်စစ် ငါအရှင်မြတ်သည် အသင်တို့အား ဆိုးသောအခြေအနေဖြင့်လည်းကောင်း၊ ကောင်းသောအခြေအနေဖြင့်လည်းကောင်း၊ (ကောင်းစွာ) စမ်းသပ်တော်မူ၏။ ၎င်းပြင် ငါအရှင်မြတ်အထံတော်သို့ပင် အသင်တို့သည် ပြန်လည် ရောက်စေခြင်းကို ခံကြရပေမည်။

وَإِذَا رَآكَ الَّذِينَ كَفَرُوا إِن يَتَّخِذُونَكَ إِلَّا هُزُوًا أَهَٰذَا الَّذِي يَذْكُرُ آلِهَتَكُمْ وَهُم بِذِكْرِ الرَّحْمَٰنِ هُمْ كَافِرُونَ ﴿٣٦﴾

၃၆။ ၎င်းပြင် ကာဖိရ် သွေဖည်ငြင်းပယ်သောသူတို့သည် အသင့်အား မြင်ကြသောအခါ ပြက်ရယ်ပြောင်လှောင်သမှုပြုကြ၏။ အသင်တို့၏ကိုးကွယ်ရာဘုရားများကို (ကဲ့ရဲ့)ပြောဆိုသူသည် ဤသူပင်လော။ စင်စစ်သော်ကား ၎င်းတို့သည် "ရဟ်မာန်" အနန္တကရုဏာတော်ရှင်နှင့် ပတ်သက်၍ ပြောဆိုခြင်းကိုပင် ငြင်းပယ်သူများ ဖြစ်ကြကုန်၏။

---

(၁) တမန်တော်မြတ်၏တရားများကို ကြားရသောအခါ အရဗ်ကာဖိရ်များက "ဤဂယက်သည် မိုဟမ္မဒ် အသက်ရှင်နေသည်အထိသာ ဖြစ်မည်။ သူသေသွားသည့်အခါ ဤဂယက်လည်း သေသွားမည်"ဟု ပြောဆိုခဲ့ကြလေသည်။

ဤသို့ ပြောဆိုခြင်း၏ အလိုမှာ နှစ်မျိုးဖြစ်နိုင်သည်။

(က) သေခြင်းသည် (နဗူဝါတ်) တမန်တော်ဖြစ်ခြင်းနှင့် ဆန့်ကျင်သည်ဟု ဆိုလိုကြပါက အလ္လာဟ်အရှင်မြတ်သည် တမန်တော်မြတ်အလျင် ပွင့်လေသမျှသော တမန်တော်များအနက် မည်သည့် တမန်တော်ကိုမျှ ဤပစ္စက္ခဘဝတွင် ထာဝရရှင်ခြင်းကို ချီးမြှင့်တော်မူခဲ့သည် မဟုတ်ပေ။ 

خُلِقَ الْإِنسَانُ مِنْ عَجَلٍ ۚ سَأُورِيكُمْ آيَاتِي فَلَا تَسْتَعْجِلُونِ ﴿٣٧﴾

၃၇။ မနုဿလူသားသည်အလျင်လိုမှုဖြင့် ဖန်ဆင်းခြင်း ခံခဲ့ရလေသည်။ မကြာမြင့်မီပင် ငါအရှင်မြတ်သည် မိမိသက်သေလက္ခဏာတော်များကို အသင်တို့အား ပြသတော်မူမည် ဖြစ်ပေသည်။ သို့ဖြစ်ပေရာ အသင်တို့သည် ငါအရှင်မြတ် အထံတော်တွင် အလျင်မလိုကြကုန်လင့်။

وَيَقُولُونَ مَتَىٰ هَٰذَا الْوَعْدُ إِن كُنتُمْ صَادِقِينَ ﴿٣٨﴾

၃၈။ ထို့ပြင် ၎င်းတို့က "အကယ်၍ အသင်တို့သည် မှန်ကန်စွာ ပြောဆိုသူများ ဖြစ်ကြပါလျှင် ဤ ချိန်းဆိုချက်သည် မည်သည့်အခါ၌ ပြီးမြောက်ပါမည်နည်း" ဟု ပြောဆိုကြကုန်၏။

لَوْ يَعْلَمُ الَّذِينَ كَفَرُوا حِينَ لَا يَكُفُّونَ عَن وُجُوهِهِمُ النَّارَ وَلَا عَن ظُهُورِهِمْ وَلَا هُمْ يُنصَرُونَ ﴿٣٩﴾

၃၉။ အကယ်၍သာ ကာဖိရ်သွေဖည်ငြင်းပယ်သောသူတို့သည် အကြင်အချိန်အခါကို သိကြပါမူ (ယင်းကဲ့သို့ ပြောဆိုကြမည် မဟုတ်ပေ)။ ထိုအချိန်အခါတွင် ယင်းသူတို့သည် မိမိတို့၏မျက်နှာများမှလည်းကောင်း၊ မိမိတို့၏ကျောက်ကုန်းများမှ လည်းကောင်း၊ မီးကို တားဆီးနိုင်ကြမည် မဟုတ်ပေ။ ထိုမှတစ်ပါး ၎င်းတို့သည် (မည်သည့်)အကူအညီကို(မျှ)လည်း ရရှိကြမည် မဟုတ်ပေ။

بَلْ تَأْتِيهِم بَغْتَةً فَتَبْهَتُهُمْ فَلَا يَسْتَطِيعُونَ رَدَّهَا وَلَا هُمْ يُنظَرُونَ ﴿٤٠﴾

၄၀။ စင်စစ်မှာကားယင်းမီးသည် ၎င်းတို့၌ ရုတ်တရက် သက်ရောက်ပြီးလျှင် ၎င်းတို့အား တွေဝေသွားစေမည် ဖြစ်သည်။ ထိုအခါ ၎င်းတို့သည် ထိုမီးကို တွန်းလှန်နိုင်ကြမည်လည်းမဟုတ်ပေ။ ထို့ပြင် ၎င်းတို့သည် ရွှေ့ဆိုင်းခွင့်ကိုလည်း ရရှိကြမည် မဟုတ်ပေ။

---

➤➤ (ခ) အကယ်၍ တမန်တော်မြတ် တစ်ရက် ကွယ်လွန်သေဆုံးတော်မူမည်ကို တွေး၍ ဝမ်းသာနေကြသည်ဆိုပါက ဤကားအဓိပ္ပာယ် မရှိပေ။ အဘယ်ကြောင့်ဆိုသော် တမန်တော်မြတ် ကွယ်လွန် သေဆုံးတော်မူပါက ယင်းကာဖိရ်များသည် ထာဝရ အသက်ရှင်၍ နေကြရမည်လော။ သတ္တဝါတိုင်းသည် အချိန်ကျလျှင် သေကြရမည်သာ ဖြစ်ပေရာ သူတစ်ပါး၏ သေခြင်းကြောင့် ဝမ်းသာရန် အကြောင်းမရှိပေ။ (လူတိုင်းသည် ကိုယ့်ဝန်ကိုယ်ထမ်း ကိုယ့်လမ်းကိုယ်သွားကြရမည်သာ ဖြစ်သည်။ မှတ်ကျောက်အတင်ခံနိုင်ရန်သာ အရေးကြီးသည်)။

၄၁။ ၎င်းပြင် မချွတ်ဧကန် အသင့်အလျင်လည်း ရစူလ်တမန်တော်များသည် ပြက်ရယ်သမှုပြုခြင်းကို ခံခဲ့ကြရလေ၏။ သို့ဖြစ်ပေရာ ထိုရစူလ်တမန်တော်များအား ပြက်ရယ်သမှု ပြုကြသူတို့အား ထိုပြက်ရယ်သမှုပြုခြင်း၏ ပြစ်ဒဏ်သည် ဝိုင်းဝန်းခဲ့လေသည်။

وَلَقَدِ اسْتُهْزِئَ بِرُسُلٍ مِّنْ قَبْلِكَ فَحَاقَ بِالَّذِينَ سَخِرُوا مِنْهُمْ مَّا كَانُوا بِهِ يَسْتَهْزِءُونَ ﴿٤١﴾

၄၂။ (အို-နဗီတမန်တော်) အသင်သည် (၎င်းတို့အား ဤသို့)ပြောကြားပါလေ။ (အချင်းတို့၊) အသင်တို့အား ညဉ့်၌လည်းကောင်း၊ နေ့၌လည်းကောင်း၊ "ရဟ်မာန်" အနန္တကရုဏာတော်ရှင်(၏ ပြစ်ဒဏ်)မှ မည်သူသည် ကာကွယ်စောင့်ရှောက်၍ထားပါသနည်း။ စင်စစ်မှာကား ၎င်းတို့သည် မိမိတို့ကို ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်အား အောက်မေ့တသသတိရခြင်းမှ မျက်နှာလွှဲ၍ နေသူများပင် ဖြစ်ကြကုန်၏။

قُلْ مَنْ يَكْلَؤُكُمْ بِاللَّيْلِ وَالنَّهَارِ مِنَ الرَّحْمَٰنِ ۗ بَلْ هُمْ عَنْ ذِكْرِ رَبِّهِمْ مُّعْرِضُونَ ﴿٤٢﴾

၄၃။ ၎င်းတို့၌ ငါအရှင်မြတ်အပြင် မိမိတို့အား ကာကွယ်အံ့သောကိုးကွယ်ရာများ ရှိကြလေသလော။ (စင်စစ်) ယင်းကိုးကွယ်ရာများသည် မိမိတို့ကိုယ်ကိုပင် ကူညီရန် တတ်စွမ်းနိုင်ကြသည် မဟုတ်ပေ။ ထို့နည်းတူစွာ ၎င်းတို့သည် ငါအရှင်မြတ်(၏ ပြစ်ဒဏ်မှ) ကာကွယ်စောင့်ရှောက်ခြင်းကို ခံကြရမည်လည်း မဟုတ်ပေ။

أَمْ لَهُمْ آلِهَةٌ تَمْنَعُهُمْ مِّنْ دُونِنَا ۚ لَا يَسْتَطِيعُونَ نَصْرَ أَنْفُسِهِمْ وَلَا هُمْ مِّنَّا يُصْحَبُونَ ﴿٤٣﴾

၄၄။ စင်စစ်မှာကား ငါအရှင်မြတ်သည် ယင်းတို့အားလည်းကောင်း၊ယင်းတို့၏အဘ၊ အဘိုး၊ ဘေးတို့အား လည်းကောင်း၊ (လောကီ စည်းစိမ်များကို ချီးမြှင့်တော်မူခြင်းအားဖြင့်) အသက်တာ ရှည်လျားသွားသည်အထိ စံစားစေတော်မူခဲ့၏။

بَلْ مَتَّعْنَا هَٰؤُلَاءِ وَآبَاءَهُمْ حَتَّىٰ طَالَ عَلَيْهِمُ الْعُمُرُ ۗ

أَفَلَا يَرَوْنَ أَنَّا نَأْتِي الْأَرْضَ نَنقُصُهَا مِنْ أَطْرَافِهَا ۚ أَفَهُمُ الْغَالِبُونَ ﴿٤٤﴾

ငါအရှင်မြတ်သည် (မက္ကာမြို့၏) မြေကို အေးပတ်ဝန်းကျင်များမှ (တဖြည်းဖြည်း) ယုတ်လျော့ (ကျဉ်းမြောင်း)အောင် ပြုလုပ်လာတော်မူသည်ကို ၎င်းတို့သည် မမြင်ကြလေသလော။ သို့ဖြစ်ရာ ၎င်းတို့သည်အောင်မြင်သောသူများ ဖြစ်ကြမည်လော။[၁]

قُلْ إِنَّمَا أُنذِرُكُم بِالْوَحْيِ ۚ وَلَا يَسْمَعُ الصُّمُّ الدُّعَاءَ إِذَا مَا يُنذَرُونَ ﴿٤٥﴾

၄၅။ (အို-နဗီတမန်တော်) အသင်သည် (၎င်းတို့အား ဤသို့)ပြောကြားပါလေ။ (အချင်းတို့၊) ငါသည် အသင်တို့အား "ဝဟ်ယ်" အမိန့်တော်ဖြင့် သတိပေး နှိုးဆော်ခြင်းသာဖြစ်သည်။ သို့ရာတွင် နားပင်းသူများမှာမူကား သတိပေး နှိုးဆော်ခြင်း ခံကြရသောအခါ ဟစ်ခေါ်ခြင်းကိုပင် မကြားကြချေ။

وَلَئِن مَّسَّتْهُمْ نَفْحَةٌ مِّنْ عَذَابِ رَبِّكَ لَيَقُولُنَّ يَا وَيْلَنَا إِنَّا كُنَّا ظَالِمِينَ ﴿٤٦﴾

၄၆။ ထို့ပြင် စင်စစ် အကယ်၍သာ အသင့်အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်၏ ပြစ်ဒဏ်မှ အငွေ့မျှပင် ၎င်းတို့၌ သက်ရောက်ခဲ့မူ အမှန်ပင် ၎င်းတို့က "သြော်-ကျွန်ုပ်တို့ ဖြစ်မှဖြစ်ရလေခြင်း၊ ကျွန်ုပ်တို့သည်သာလျှင် မတရားမှုကို ကျူးလွန်သောသူများဖြစ်ကြသည်" ဟု (ညည်းညူမြည်တမ်း) ပြောဆိုကြပေမည်။

---

(၁) ဆိုလိုသည်ကား အရဗ်နိုင်ငံတွင် အစ္စလာမ်သည် တဖြည်းဖြည်း တိုးတက်ပြန့်ပွား ထွန်းကားလာချေပြီ။ ကုဖ်ရ်၊ ရှရစ်က် မိစ္ဆာတရားသည် တိမ်ကောလာချေပြီ။ ကာဖိရ်၊ မုရှ်ရစ်က်တို့အပေါ်၌ အရဗ်နိုင်ငံ မြေကြီးသည်လည်း တဖြည်းဖြည်း ကျဉ်း၍ကျဉ်း၍ လာချေပြီ။ ၎င်းတို့၏ အစိုးရများနှင့် အာဏာစက်၊ အရှိန်အဝါများသည်လည်း ပျက်စီးမှေးမှိန်လာချေပြီ။ အစ္စလာမ်နယ်နိမိတ် ကြီးမားလာခဲ့သည်နှင့်အမျှ ကုဖ်ရ်၏ နယ်နိမိတ်သည်လည်း ကျဉ်း၍ လာခဲ့ချေပြီ။ ဤသည့် ဖြစ်ရပ်များ၊ နိမိတ်လက္ခဏာများကို တွေ့မြင်နေကြပါလျက် ကာဖိရ်၊ မုရှ်ရစ်က်တို့သည် ၎င်းတို့၏ နောင်ရေးကို မတွေးမိကြပေ။ ၎င်းတို့သည် တမန်တော်မြတ်နှင့်တကွ မွတ်စ်လင်မ်တို့အား လွှမ်းမိုးကြရမည်ဟူ၍ ထင်မှတ်နေကြလေသလော။

အကယ်၍ ကာဖိရ်၊ မုရှ်ရစ်က်များ၌ အသိဉာဏ်အမြော်အမြင်ရှိပါလျှင် ၎င်းတို့သည် မိမိတို့၏ဉာဏ်ကို အသုံးပြုသင့်ကြပေသည်။ အခြေအနေများကို ဆင်ခြင်၍ မိမိတို့၏ နောင်ရေးကို ဆင်ခြင်သင့်ကြလေသည်။ ၎င်းတို့၏ ပတ်ဝန်းကျင် မြို့ရွာသားများသည် တမန်တော်များအား သွေဖည်ငြင်းဆန်ခဲ့ကြသည့်အတွက် ➤➤

وَنَضَعُ الْمَوَازِينَ الْقِسْطَ لِيَوْمِ الْقِيَامَةِ فَلَا تُظْلَمُ نَفْسٌ شَيْئًا ۖ وَإِن كَانَ مِثْقَالَ حَبَّةٍ مِّنْ خَرْدَلٍ أَتَيْنَا بِهَا ۗ وَكَفَىٰ بِنَا حَاسِبِينَ ﴿٤٧﴾

၄၇။ စင်စစ်ငါအရှင်မြတ်သည် ကိယာမတ် ရှင်ပြန်ထမည့်နေ့တွင် မျှတသောချိန်ခွင်များကို ထားရှိတော်မူသည်။ သို့ဖြစ်ပေရာ မည်သူတစ်ဦးတစ်ယောက်မျှ အနည်းငယ်စိုးစဉ်းမျှပင် မတရားသဖြင့် နှိပ်စက်ခြင်းကို ခံရမည်မဟုတ်ပေ။ စင်စစ် အကယ်၍ (တစ်ဦးတစ်ယောက်၌) မုန်ညင်းစေ့ တစ်စေ့မျှ အလေးချိန်ရှိသော(ကောင်းမှုပင်) ရှိငြားသော်လည်း ငါအရှင်မြတ်သည်ယင်းမုန်ညင်းစေ့တစ်စေ့ကိုလည်း (ရှေ့တော်မှောက်သို့) ယူလာတော်မူမည်သာဖြစ်သည်။ စင်စစ်ငါအရှင်မြတ်နှင့်ပင် စစ်ဆေးတော်မူသောအရှင်အဖြစ် လုံလောက်ပေသတည်း။

وَلَقَدْ آتَيْنَا مُوسَىٰ وَهَارُونَ الْفُرْقَانَ وَضِيَاءً وَذِكْرًا لِّلْمُتَّقِينَ ﴿٤٨﴾

၄၈။ ဧကန်စင်စစ် ငါအရှင်မြတ်သည် မူစာနှင့်ဟာရူန်အား အမှားနှင့်အမှန်ကို ကွဲပြား ခြားနားစေသော အလင်းရောင်တစ်ခုဖြစ်သော ပြစ်မှုဒုစရိုက်များမှ ကြဉ်ရှောင်ကြကုန်သော မွတ္တကီ သူတော်စင်တို့အဖို့ ဆုံးမစာတစ်စောင်ဖြစ်သော (တောင်ရာတ်)ကျမ်းကို ချီးမြှင့် ပေးသနားတော်မူခဲ့လေသည်။

الَّذِينَ يَخْشَوْنَ رَبَّهُم بِالْغَيْبِ وَهُم مِّنَ السَّاعَةِ مُشْفِقُونَ ﴿٤٩﴾

၄၉။ အကြင်သူ(တော်)တို့သည် မိမိတို့အားဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်ကို မမြင်ကြပါဘဲလျက် ကြောက်ရွံ့ရှိသေကြကုန်၏။ ထို့ပြင် ၎င်းတို့သည် ကိယာမတ် ရှင်ပြန်ထမည့်နေ့ကို ကြောက်ရွံ့စိုးရိမ်သူများလည်း ဖြစ်ကြကုန်သည်။

➤➤ အလ္လာဟ်အရှင်မြတ်၏ ပြစ်ဒဏ်သင့်၍ ပျက်စီးခြင်းကြီးမက ပျက်စီးသွားခဲ့ကြချေပြီ။ ထိုအရှင်မြတ်၏ အမိန့်တော်များကို နာယူကျင့်မူကြကုန်သော တမန်တော်များနှင့် မွတ်စ်လင်မ်များသည် အောင်မြင်ခဲ့ကြပေပြီ။ ကြည့်-ကုရ်အာန်- (၄၆:၂၇)။ သို့ဖြစ်ပေရာ ယင်း ကာဖိရ်၊ မုရှ်ရစ်ကဲ်များသည် တမန်တော်အပေါင်းတို့၏ အချုပ်ဖြစ်တော်မူသော တမန်တော်မြတ် မုဟမ္မဒ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)အား အသို့လျှင် လွှမ်းမိုးနိုင်ကြအံ့နည်း။

**၅၀။** စင်စစ် ဤ(ကုရ်အာန်ကျမ်းတော်မြတ်)သည်ကား ကျက်သရေမင်္ဂလာနှင့်ပြည့်စုံသော ဆုံးမစာတစ်စောင်ဖြစ်ပေသည်။ ငါအရှင်မြတ်သည် ယင်းဆုံးမစာကိုချပေးသနားတော်မူခဲ့လေသည်။ သို့ပါလျက် အသင်တို့သည် ယင်းဆုံးမစာကို ငြင်းပယ်သူများပင် ဖြစ်ကြပေသလော။

وَهٰذَا ذِكْرٌ مُّبٰرَكٌ اَنْزَلْنٰهُ ۚ اَفَاَنْتُمْ لَهٗ مُنْكِرُوْنَ ﴿٥٠﴾

**၅၁။** ၎င်းပြင် ဧကန်မလွဲ ငါအရှင်မြတ်သည် (တမန်တော်)အီဗ်ရာဟီမ်အား ရှေးဦးမဆွကပင် [1] ၎င်း၏ဆင်ခြင်တုံတရားကို ချီးမြှင့်ပေးသနားတော်မူခဲ့၏။ [2] စင်စစ် ငါအရှင်မြတ်သည် ထိုအီဗ်ရာဟီမ်အား ကောင်းစွာ သိတော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူပေသည်။

وَلَقَدْ اٰتَيْنَآ اِبْرٰهِيْمَ رُشْدَهٗ مِنْ قَبْلُ وَكُنَّا بِهٖ عٰلِمِيْنَ ﴿٥١﴾

**၅၂။** အကြင်အခါဝယ် ထိုအီဗ်ရာဟီမ်သည် မိမိဖခင်အားလည်းကောင်း၊ မိမိအမျိုးသားတို့အားလည်းကောင်း၊(အချင်းတို့၊)အသင်တို့ စွဲလမ်းကိုးကွယ်လျက်ရှိကြကုန်သော ဤရုပ်တုများကား အဘယ်သို့သော အရာများနည်း၊ ဟု ပြောဆို(မေးမြန်း)ခဲ့လေသည်။

اِذْ قَالَ لِاَبِيْهِ وَقَوْمِهٖ مَا هٰذِهِ التَّمَاثِيْلُ الَّتِيْٓ اَنْتُمْ لَهَا عٰكِفُوْنَ ﴿٥٢﴾

---

(၁) ဤအာယတ်တော်တွင်ပါရှိသည့် (မင်န်ကဗ်လု) "အလျင်"ဟူသည် တမန်တော်မူစာနှင့် တမန်တော်ဟာရူန်တို့ အလျင်ဟူ၏။ အချို့ကမူ အလ္လာဟ်အရှင်မြတ်သည် တမန်တော် အီဗ်ရာဟီမ်အား ငယ်ရွယ်စဉ်၌ပင် အဆိုပါ "ရုရှ်ဒ်" ကို ချီးမြှင့်တော်မူခဲ့ခြင်း ဖြစ်သည်ဟု ဆိုကြ၏။

(၂) "ရုရှ်ဒ်" ဟူသောပုဒ်သည် ဖြောင့်မတ်မှန်ကန်သောလမ်းရရှိခြင်း၊ ရှေ့နောက် မြော်မြင်ဆင်ခြင် သိမြင်နိုင်သော အသိအလိမ္မာဉာဏ်၊ အကောင်းအဆိုး ခွဲခြားသိမြင်နိုင်သော ဉာဏ်၏အနက်၌ ဖြစ်သည်။

ဤအာယတ်တော်တွင် အလ္လာဟ်အရှင်မြတ်က တမန်တော် အီဗ်ရာဟီမ်အား ချီးမြှင့်တော်မူခဲ့သော 'ရုရှ်ဒ်'ကား အဘယ်နည်း၊ ဤတွင် အဆိုပြားလျက်ရှိသည်။

(က) အချို့က ဤအာယတ်တော်တွင် လာရှိသော "ရုရှ်ဒ်" ဟူသောပုဒ်သည် "နုဗုဝါတ်" ၏ အနက်၌ဖြစ်သည်ဟု ဆိုကြသည်။

(ခ) အချို့က ဤပုဒ်သည် သာသနာရေးတွင် တော်တည့် ဖြောင့်မတ် မှန်ကန်စွာ ကျင့်သုံးနိုင်ရန် အတွက် အမှန်တရား ရရှိခြင်းဟူသော အနက်၌ဖြစ်သည်ဟု ဆိုကြသည်။ ➢➢

၅၃။ ထိုအမျိုးသားတို့က ကျွန်ုပ်တို့သည် မိမိတို့၏အဘ၊ ဘိုးဘေးတို့အား ဤရုပ်တုများကို ကိုးကွယ်သူများအဖြစ် တွေ့ရှိခဲ့ကြသည်ဟု ပြောဆို(ဖြေကြား)ခဲ့ကြလေသည်။

قَالُوا وَجَدْنَا آبَاءَنَا لَهَا
عَابِدِينَ ﴿٥٣﴾

၅၄။ ထို အီဗ်ရာဟီမ်က အသင်တို့သည် လည်းကောင်း၊ အသင်တို့၏ အဘ၊ ဘိုး၊ ဘေးတို့သည် လည်းကောင်း၊ ထင်ရှားစွာသော မှောက်မှားမှု၌ပင် ရှိခဲ့ကြကုန်သည်ဟု ပြောကြားခဲ့၏။

قَالَ لَقَدْ كُنْتُمْ أَنْتُمْ وَ
آبَاؤُكُمْ فِي ضَلَالٍ مُبِينٍ ﴿٥٤﴾

၅၅။ ၎င်းတို့က (အို-အီဗ်ရာဟီမ်) အသင်သည် ကျွန်ုပ်တို့ထံ အမှန်ကို ယူဆောင်လာခဲ့လေသလော၊ သို့တည်းမဟုတ် အသင်သည် ပြက်ချော်ပြောင်လှောင်သူတစ်ဦးပင် ဖြစ်လေသလောဟု ပြောဆိုခဲ့ကြကုန်၏။

قَالُوا أَجِئْتَنَا بِالْحَقِّ أَمْ
أَنْتَ مِنَ اللَّاعِبِينَ ﴿٥٥﴾

၅၆။ ထိုအီဗ်ရာဟီမ်က ထိုသို့အလျှင်းမဟုတ်၊စင်စစ်အသင်တို့၏အရှင်သခင်သည်ကား မိုးကောင်းကင်များနှင့်ပထဝီမြေကို စိုးပိုင်တော်မူသော အကြင်အရှင်မြတ်ပင် ဖြစ်တော်မူ၏။ ထိုအရှင်မြတ်သည် ယင်း မိုးကောင်းကင်များနှင့် ပထဝီမြေကို ဖန်ဆင်းတော်မူခဲ့လေသည်။ ၎င်းပြင် ငါသည် ဤသည်နှင့်စပ်လျဉ်း၍ သက်သေများတွင် တစ်ဦး အပါအဝင်ဖြစ်သည်ဟု ပြောဆို(ဖြေကြား)ခဲ့လေသည်။

قَالَ بَلْ رَبُّكُمْ
رَبُّ السَّمَاوَاتِ وَالْأَرْضِ
الَّذِي فَطَرَهُنَّ وَأَنَا
عَلَىٰ ذَٰلِكُمْ مِنَ
الشَّاهِدِينَ ﴿٥٦﴾

၅၇။ ၎င်းပြင်အလ္လာဟ်အရှင်မြတ်၏ကစမ်၊ ငါသည် အသင်တို့၏(ကိုးကွယ်ရာဖြစ်သော) ရုပ်ပွား ဆင်းတုများနှင့်စပ်လျဉ်း၍ အသင်တို့ပြန်သွားကြပြီးနောက် လျှို့ဝှက်ကြံစည်မည် ဖြစ်သည်။

وَتَاللَّهِ لَأَكِيدَنَّ
أَصْنَامَكُمْ بَعْدَ أَنْ تُوَلُّوا
مُدْبِرِينَ ﴿٥٧﴾

---

➤➤ (ဂ) အချို့ကမူ အဆိုပါအနက်သဘော နှစ်ရပ်စလုံးသည် ဤပုဒ်တွင် အကျုံးဝင်လျက် ရှိသည်ဟု ဆိုကြသည်။

فَجَعَلَهُمْ جُذَاذًا إِلَّا كَبِيرًا لَّهُمْ لَعَلَّهُمْ إِلَيْهِ يَرْجِعُونَ ﴿٥٨﴾

၅၈။ ထို့နောက် ထိုအီဗ်ရာဟီမ်သည် ယင်းရုပ်ပွားဆင်းတုတော်များကို အစိတ်စိတ်အပိုင်းပိုင်းဖြစ်အောင် ပြုလုပ်ခဲ့လေသည်။ သို့ရာတွင် ယင်းတို့အနက် အကြီးဆုံးကိုမူကားချန်၍ထားခဲ့လေ၏။ သို့မှသာလျှင် ၎င်းတို့သည် ထိုတမန်တော်အီဗ်ရာဟီမ်ထံသို့ (စုံစမ်းရန်) ပြန်လာကြပေမည်။

قَالُوا مَن فَعَلَ هَٰذَا بِآلِهَتِنَا إِنَّهُ لَمِنَ الظَّالِمِينَ ﴿٥٩﴾

၅၉။ ယင်းအမျိုးသားတို့ကကျွန်ုပ်တို့၏ ကိုးကွယ်ရာများကို မည်သူသည် ဤသို့ပြုလုပ်ခဲ့ပါဘိသနည်း။ ကေန်မလွဲ ထိုသူသည် ကျူးကျော်စော်ကားသူ တစ်ဦးပင်ဖြစ်သည်ဟု ပြောဆိုခဲ့ကြကုန်၏။

قَالُوا سَمِعْنَا فَتًى يَذْكُرُهُمْ يُقَالُ لَهُ إِبْرَاهِيمُ ﴿٦٠﴾

၆၀။ ယင်းအမျိုးသားတို့(အနက် အချို့)က ကျွန်ုပ်တို့သည် အီဗ်ရာဟီမ်ဟုခေါ်တွင်သော လူငယ်တစ်ဦးအား ဤ(ကျွန်ုပ်တို့၏ကိုးကွယ်ရာ)တို့ကို (ပြစ်တင်) ပြောဆိုသည်ကို ကြားဖူးခဲ့ကြသည်ဟု ပြောကြကုန်၏။

قَالُوا فَأْتُوا بِهِ عَلَىٰ أَعْيُنِ النَّاسِ لَعَلَّهُمْ يَشْهَدُونَ ﴿٦١﴾

၆၁။ (ထိုအခါ) ယင်းအမျိုးသားတို့က သို့ဖြစ်လျှင် အသင်တို့သည် အီဗ်ရာဟီမ်အား လူအပေါင်းတို့၏ မျက်မှောက်သို့ ၎င်းတို့(အားလုံး အီဗ်ရာဟီမ်)အား မြင်နိုင်ကြအံ့သောငှာ ခေါ်ဆောင်ခဲ့ကြလေကုန် ဟု ပြောဆိုကြလေ၏။

قَالُوا أَأَنتَ فَعَلْتَ هَٰذَا بِآلِهَتِنَا يَا إِبْرَاهِيمُ ﴿٦٢﴾

၆၂။ (အီဗ်ရာဟီမ်သည် ၎င်းတို့ ရှေ့မှောက်သို့ ရောက်သောအခါ) ၎င်းတို့က အို-အီဗ်ရာဟီမ် အသင်သည်ပင်လျှင် ကျွန်ုပ်တို့၏ ကိုးကွယ်ရာများကို ဤသို့ ပြုလုပ်ခဲ့လေသလောဟု ပြောဆို(မေးမြန်း)ခဲ့ကြကုန်၏။

قَالَ بَلْ فَعَلَهُۥ كَبِيرُهُمْ هَٰذَا فَسْـَٔلُوهُمْ إِن كَانُوا۟ يَنطِقُونَ ﴿٦٣﴾

၆၃။ ထို(အခါ) အီဗ်ရာဟီမ်က (ဤသို့) ပြောဆို (ဖြေကြား)ခဲ့၏။ အချင်းတို့၊ ထိုသို့အလျှင်းမဟုတ်၊ စင်စစ်မှာကား ၎င်းတို့၏ အကြီးအကဲဖြစ်သော ဤ (ရုပ်ပွားဆင်းတုကြီး)ကသာလျှင် ဤသို့ပြုလုပ်(ဟန် လက္ခဏာရှိ)သည်။ သို့ဖြစ်ပေရာ အသင်တို့သည် ထိုရုပ်တုများကိုပင် အကယ်၍ ၎င်းတို့သည် စကား ပြောဆိုနိုင်ကြပါလျှင် (မေးမြန်း၍ကြည့်)ကြလေကုန်။

فَرَجَعُوٓا۟ إِلَىٰٓ أَنفُسِهِمْ فَقَالُوٓا۟ إِنَّكُمْ أَنتُمُ ٱلظَّٰلِمُونَ ﴿٦٤﴾

၆၄။ ထိုအခါ ယင်းအမျိုးသားတို့သည် မိမိတို့၏ စိတ်ထဲတွင် တွေးတောစဉ်းစားခဲ့ကြလေသည်။ ထို့နောက် ၎င်းတို့သည် (မိမိတို့အချင်းချင်း) "အသင်တို့သည်သာလျှင် အမှားကိုကျူးလွန်သူများဖြစ်ကြသည်" ဟု (ထုတ်ဖော်)ပြောဆိုခဲ့ကြကုန်၏။

ثُمَّ نُكِسُوا۟ عَلَىٰ رُءُوسِهِمْ لَقَدْ عَلِمْتَ مَا هَٰٓؤُلَآءِ يَنطِقُونَ ﴿٦٥﴾

၆၅။ ထိုနောက်၎င်းတို့သည် မိမိတို့၏ ဦးခေါင်းများကို အောက်သို့စိုက်လျက် (အိုး-အီဗ်ရာဟီမ်) ဤရုပ်ပွားဆင်းတုများ (အလျှင်း) စကားပြောဆိုနိုင်ကြသည် မဟုတ်ကြောင်းကို အသင်သည်အသိပင် ဖြစ်သည်ဟု ပြောဆိုခဲ့ကြကုန်၏။

قَالَ أَفَتَعْبُدُونَ مِن دُونِ ٱللَّهِ مَا لَا يَنفَعُكُمْ شَيْـًٔا وَلَا يَضُرُّكُمْ ﴿٦٦﴾

၆၆။ ထို(အခါ) အီဗ်ရာဟီမ်က သို့ပါလျက် အသင်တို့သည် အလ္လာဟ်အရှင်မြတ်အပြင် အကြင်အရာကို ခဝပ်ကိုးကွယ်ကြလေသလော။ ထိုအရာသည် အသင်တို့အား လုံး၀ အကျိုးဖြစ်ထွန်းစေနိုင်သည်လည်း မဟုတ်ပေ။ အသင်တို့အား အကျိုးယုတ်စေနိုင်သည် လည်း မဟုတ်ပေ။

أُفٍّ لَّكُمْ وَلِمَا تَعْبُدُونَ مِن دُونِ ٱللَّهِ أَفَلَا تَعْقِلُونَ ﴿٦٧﴾

၆၇။ ထွီ၊ အသင်တို့သည် ၎င်းအလ္လာဟ်အရှင်မြတ် အပြင် အသင်တို့ကိုးကွယ်ကြသော အရာများသည် လည်းကောင်း၊ စက်ဆုပ်ဖွယ်ကောင်းလှပေသည်။ အသင်တို့သည် မသိနားမလည်ကြလေသလော။

٦٨ قَالُوا حَرِّقُوهُ وَانصُرُوا آلِهَتَكُمْ إِن كُنتُمْ فَاعِلِينَ ﴿٦٨﴾

၆၈။ ယင်းအမျိုးသားတို့က (အချင်းတို့၊) အကယ်၍ အသင်တို့သည် (တစ်စုံတစ်ရာကို) ပြုလုပ်မည့်သူများပင်ဖြစ်ကြပါမူ ထိုအီဗ်ရာဟီမ်အား မီးတင်ရှို့လျက် မိမိတို့၏ ကိုးကွယ်ရာ ဘုရားများကို ဝိုင်းမကူညီကြလေကုန်ဟု ပြောဆိုကြကုန်၏။

قُلْنَا يَا نَارُ كُونِي بَرْدًا وَسَلَامًا عَلَىٰ إِبْرَاهِيمَ ﴿٦٩﴾

၆၉။ (ထိုအခါ) ငါအရှင်မြတ်က "အို-မီး၊ သင်သည် အီဗ်ရာဟီမ်အပေါ်၌ အေးမြစွာလည်းကောင်း၊ သာယာစွာလည်းကောင်း ရှိလော့"ဟု မိန့်ကြားတော်မူခဲ့၏။

وَأَرَادُوا بِهِ كَيْدًا فَجَعَلْنَاهُمُ الْأَخْسَرِينَ ﴿٧٠﴾

၇၀။ စင်စစ်သော်ကား ၎င်းတို့သည် ထိုအီဗ်ရာဟီမ်နှင့်ပတ်သက်၍ မကောင်းသော အကြံအစည်ကို ကြံရွယ်ခဲ့ကြကုန်၏။ သို့ရာတွင် ငါအရှင်မြတ်သည် ၎င်းတို့အား အကြံမအောင်သောသူများပင် ဖြစ်စေတော်မူခဲ့၏။

وَنَجَّيْنَاهُ وَلُوطًا إِلَى الْأَرْضِ الَّتِي بَارَكْنَا فِيهَا لِلْعَالَمِينَ ﴿٧١﴾

၇၁။ ထို့အပြင် ငါအရှင်မြတ်သည် ထိုအီဗ်ရာဟီမ်အားလည်းကောင်း၊ လူတ္ဂ်အားလည်းကောင်း၊ အကြင်နယ်မြေသို့ (စေလွှတ်တော်မူခြင်းအားဖြင့်) ကယ်တင်တော်မူခဲ့၏။ ငါ အရှင်မြတ်သည် ယင်းနယ်မြေ၌ ကမ္ဘာသူ ကမ္ဘာသားတို့အဖို့ ကျက်သရေမင်္ဂလာ၊ သုခချမ်းသာများ၊ ရှိစေတော်မူခဲ့၏။

وَوَهَبْنَا لَهُ إِسْحَاقَ وَيَعْقُوبَ نَافِلَةً ۖ وَكُلًّا جَعَلْنَا صَالِحِينَ ﴿٧٢﴾

၇၂။ ထိုမှတပါး ငါအရှင်မြတ်သည် ထိုအီဗ်ရာဟီမ်အား အစ္စဟာက်ကို (သားတော်အဖြစ်)လည်းကောင်း၊ ယအ်ကူးဗ်ကို မြေးတော်အဖြစ်လည်းကောင်း၊ ချီးမြှင့်ပေးသနားတော်မူခဲ့၏။ ထိုမှတပါး ငါအရှင်မြတ်သည် (၎င်းတို့အနက်) အသီးသီးအား သူတော်စင်များပင် ဖြစ်စေတော်မူခဲ့၏။

وَجَعَلْنٰهُمْ اَئِمَّةً يَّهْدُوْنَ بِاَمْرِنَا وَاَوْحَيْنَآ اِلَيْهِمْ فِعْلَ الْخَيْرٰتِ وَاِقَامَ الصَّلٰوةِ وَاِيْتَآءَ الزَّكٰوةِ ۚ وَكَانُوْا لَنَا عٰبِدِيْنَ ﴿٧٣﴾

၇၃။ ထိုနည်းတူစွာ ငါအရှင်မြတ်သည် ၎င်းတို့အား ငါအရှင်မြတ်၏အမိန့်တော်နှင့် (ဝေနေယျသတ္တဝါများအား)တရားလမ်းမှန်ကို ညွှန်ပြကြလေသော ရှေ့ဆောင်ရှေ့ရပ်များအဖြစ်သို့ ချီးမြှင့်တော်မူခဲ့၏။ တဖန် ငါအရှင်မြတ်သည် ထိုသူတို့ထံ ကောင်းမြတ်သော အကျင့်အမူများကို ကျင့်မှု ဆောက်တည်ကြရန်လည်းကောင်း၊ ဆွလာတ် ဝတ်ပြုမှုကို ဆောက်တည်ရန်လည်းကောင်း၊ ဇကာတ် ပေးဆောင်ရန်လည်းကောင်း၊ "ဝဟ်ယ်" အမိန့်တော်ကိုထုတ်ပြန်တော်မူခဲ့၏။ စင်စစ် ၎င်းတို့သည် ငါအရှင်မြတ်အား ခဝပ်ကိုးကွယ်သူများပင် ဖြစ်ခဲ့ကြကုန်သတည်း။

وَلُوْطًا اٰتَيْنٰهُ حُكْمًا وَّعِلْمًا وَّنَجَّيْنٰهُ مِنَ الْقَرْيَةِ الَّتِيْ كَانَتْ تَّعْمَلُ الْخَبٰٓئِثَ ۭ اِنَّهُمْ كَانُوْا قَوْمَ سَوْءٍ فٰسِقِيْنَ ﴿٧٤﴾

၇၄။ ထိုမှတပါးငါအရှင်မြတ်သည် လူတ်အား[၁] ဆင်ခြင်တုံတရားကို လည်းကောင်း၊ အသိပညာကို လည်းကောင်း၊ ချီးမြှင့်ပေးသနားတော်မူခဲ့၏။ ၎င်းပြင် ငါအရှင်မြတ်သည် ထိုလူတ်အား အကြင်မြို့ရွာမှ ကယ်တင်တော်မူခဲ့၏။ ယင်းမြို့(သူ) ရွာ(သားတို့) သည် စက်ဆုပ်ရွံ့ရှာဖွယ်များကို ကျူးလွန်လျက် ရှိခဲ့ကြကုန်၏။ ဧကန်မလွဲ ၎င်းတို့သည် အလွန် ယုတ်မာသော အမျိုးသားများ၊ ကာမဂုဏ် လိုက်စား ကျူးလွန်သောသူများပင် ဖြစ်ခဲ့ကြကုန်၏။

وَاَدْخَلْنٰهُ فِيْ رَحْمَتِنَا ۭ اِنَّهٗ مِنَ الصّٰلِحِيْنَ ﴿٧٥﴾

၇၅။ ၎င်းပြင် ထို လူတ်အား ငါအရှင်မြတ်သည် မိမိကရုဏာတော်အတွင်း ဝင်ရောက်စေတော်မူခဲ့၏။ စင်စစ်ဧကန် ထို လူတ်ကား သူတော်စင်တို့တွင် ပါဝင်ခဲ့ပေသတည်း။

---

(၁) **မှတ်ချက်။ တမန်တော်လူတ်။**

တမန်တော် လူတ် အကြောင်း ကုရ်အာန် (၆း၈၇။ ၇း၈၀။ ၁၁း၇၇-၈၃) များတွင် အကျယ် ရေးသားခဲ့ပေပြီ။ ပြန်လည် ရှုပါကုန်။

**၇၆။** ထို့ပြင် (အို-နဗီတမန်တော်)နူဟ် [၁] (၏ အတ္ထုပ္ပတ္တိအကြောင်း)ကိုလည်း (ပြန်လည်သတိရ ပါလေ။ တမန်တော် အီဗ်ရာဟီမ်မပွင့်မီ) ရှေးကာလ ကပင် ထိုနူဟ်သည် (ငါအရှင်မြတ်အား) ဟစ်ခေါ် ပန်ကြားခဲ့လေသည်။ ထိုအခါ ငါအရှင်မြတ်သည် ထိုနူဟ်၏ ဟစ်ခေါ်ပန်ကြားချက်ကို သဘောတူ လက်ခံတော်မူခဲ့ပေသည်။ ထို့နောက် ငါအရှင်မြတ် ထိုနူဟ်အားလည်းကောင်း၊ ထိုနူဟ်၏ဘက်တော်သား တို့အားလည်းကောင်း၊ ကြီးစွာသော ပူပင်သောက ဖြစ်ခြင်းမှ ကယ်တင်တော်မူခဲ့၏။

وَنُوحًا إِذْ نَادَىٰ مِن قَبْلُ فَاسْتَجَبْنَا لَهُ فَنَجَّيْنَاهُ وَأَهْلَهُ مِنَ الْكَرْبِ الْعَظِيمِ ﴿٧٦﴾

**၇၇။** ထိုမှတပါး ငါအရှင်မြတ်သည် ထိုနူဟ်အား ငါအရှင်မြတ်၏ သက်သေလက္ခဏာတော်များကို မဟုတ်မမှန်ဟူ၍ ငြင်းပယ်ခဲ့ကြသော အမျိုးသားတို့ (၏ ဘေးအန္တရာယ်)မှ ကာကွယ်စောင့်ရှောက်တော် မူခဲ့၏။ ဧကန်မလွဲ ၎င်းတို့သည် အလွန်ဆိုးရွားသော အမျိုးသားများပင် ဖြစ်ခဲ့ကြကုန်၏။ သို့ဖြစ်ပေရာ ငါအရှင်မြတ်သည် ၎င်းတို့အားလုံးကို နစ်မြုပ်စေတော် မူခဲ့ပေသတည်း။

وَنَصَرْنَاهُ مِنَ الْقَوْمِ الَّذِينَ كَذَّبُوا بِآيَاتِنَا ۚ إِنَّهُمْ كَانُوا قَوْمَ سَوْءٍ فَأَغْرَقْنَاهُمْ أَجْمَعِينَ ﴿٧٧﴾

**၇၈။** ထိုမှတပါး (အို-နဗီတမန်တော်)ဒါဝူဒ် (၏ အတ္ထုပ္ပတ္တိအကြောင်း)ကို လည်းကောင်း၊ စုလိုင်မာန် (၏ အတ္ထုပ္ပတ္တိ အကြောင်းကို လည်းကောင်း၊ ပြန်လည်၍ သတိရပါလေ)။ တစ်ရံရောအခါဝယ် ထို(သားအဖ)နှစ်ပါးတို့သည် လယ်ယာနှင့်စပ်လျဉ်း၍ စီရင်ဆုံးဖြတ် ကြကုန်၏။

وَدَاوُودَ وَسُلَيْمَانَ إِذْ يَحْكُمَانِ فِي الْحَرْثِ إِذْ نَفَشَتْ فِيهِ غَنَمُ الْقَوْمِ ۚ وَكُنَّا لِحُكْمِهِمْ شَاهِدِينَ ﴿٧٨﴾

---

① **မှတ်ချက်။**

တမန်တော် နူဟ်(အလိုင်ဟစ္စလာမ်)အကြောင်း ကုရ်အာန် (၃း၃၂)တွင် အကျယ်ရေးသားခဲ့ပေပြီ။ ကုရ်အာန် (၆း၈၅)တွင်လည်း သက်ဆိုင်ရာ အရေးကြီးသော အချက်များကို ဖြည့်စွက်ရေးသားခဲ့ပြီးဖြစ်သည်။

အကြင်အခါဝယ် အမျိုးသားတို့၏ ဆိတ်များသည် ယင်းလယ်ယာ၌ ညဥ့်အချိန်တွင် ဝင်ရောက်(ဖျက်ဆီး)ခဲ့ကြကုန်၏။ စင်စစ် ငါအရှင်မြတ်သည် ၎င်းတို့၏ စီရင်ဆုံးဖြတ်မှုကို ရှုစားလျက်ပင် ရှိနေတော်မူခဲ့၏။ ၁

၇၉။ ထိုရောအခါဝယ်ငါအရှင်မြတ်သည် စုလိုင်မာန်အား ယင်းအမှု(၏အဆုံးအဖြတ်)ကို သိနားလည်စေတော်မူခဲ့၏။ စင်စစ်သော်ကား ငါအရှင်မြတ်သည် (ဒါဝူဒ်နှင့် စုလိုင်မာန်တမန်တော် နှစ်ပါးအနက်) အသီးသီးအား ဆင်ခြင်တုံတရားကို လည်းကောင်း၊ အသိပညာကို လည်းကောင်း ချီးမြှင့်ပေးသနားတော်မူခဲ့၏။ ထိုမှတပါး ငါအရှင်မြတ်သည် ဒါဝူဒ်နှင့်အတူ တောင်များကို လိုက်နာစေတော်မူခဲ့ရာ ထိုတောင်များသည်(ဒါဝူဒ်နှင့်အတူ) ငါအရှင်မြတ် သန့်ရှင်းစင်ကြယ်တော်မူကြောင်း ဘာဝနာပွားလျက် ရှိကြပေသည်။ ထို့နည်းတူစွာ ငှက်တိရစ္ဆာန်များကိုလည်း (ဒါဝူဒ်နှင့်အတူလိုက်နာစေတော်မူခဲ့သည်။) စင်စစ် ငါအရှင်မြတ်သည် (ယင်းကဲ့သို့) ပြုလုပ်တော်မူသော အရှင်ဖြစ်တော်မူပေသည်။

فَفَهَّمْنٰهَا سُلَيْمٰنَ ۚ وَكُلًّا اٰتَيْنَا حُكْمًا وَّعِلْمًا ۫ وَّسَخَّرْنَا مَعَ دَاوٗدَ الْجِبَالَ يُسَبِّحْنَ وَالطَّيْرَ ۭ وَكُنَّا فٰعِلِيْنَ ۝٧٩

---

(၁) **တမန်တော်ဒါဝူဒ်နှင့် တမန်တော် စုလိုင်မာန်၏ အဆုံးအဖြတ်။**

တမန်တော် ဒါဝူဒ်(အလိုင်ဟစ္စလာမ်)၏ အကြောင်း ကုရ်အာန် (၂း၂၅၁)တွင်လည်းကောင်း၊ (၄း၁၆၃)တွင်လည်းကောင်း၊ (၆း၈၅)တွင်လည်းကောင်း ရေးသားခဲ့ပေပြီ။

တမန်တော် စုလိုင်မာန်(အလိုင်ဟစ္စလာမ်)၏ အကြောင်း ကုရ်အာန် (၂း၁၀၂)တွင်လည်းကောင်း၊ (၄း၁၆၃)တွင်လည်းကောင်း၊ (၆း၈၅)တွင်လည်းကောင်း ရေးသားခဲ့ပေပြီ။

တမန်တော် ဒါဝူဒ်(David)သည် အလ္လာဟ်အရှင်မြတ်၏ တမန်တော်တစ်ပါးဖြစ်သည်။ တမန်တော် စုလိုင်မာန်(Solomon)သည် တမန်တော်ဒါဝူဒ်၏သားတော်ဖြစ်သည်။ တမန်တော် တစ်ပါးလည်းဖြစ်သည်။ အလ္လာဟ်အရှင်မြတ်သည် ယင်း သားအဘ နှစ်ပါးတို့အား အုပ်ချုပ်မှု၊ ဆုံးဖြတ်မှု၊ အသိပညာ၊ အမြော်အမြင်များကို အထူးတလည် ချီးမြှင့်ထားတော်မူခဲ့သည်။ 

وَعَلَّمْنٰهُ صَنْعَةَ لَبُوْسٍ لَّكُمْ لِتُحْصِنَكُمْ مِّنْۢ بَاْسِكُمْ ۚ فَهَلْ اَنْتُمْ شٰكِرُوْنَ ﴿٨٠﴾

၈၀။ ၎င်းပြင် ငါအရှင်မြတ်သည် ထိုဒါဝူဒ်အား အသင်တို့အကျိုးငှာ သံချပ်အင်္ကျီ ပြုလုပ်သော အတတ်ပညာကို သင်ပေးတော်မူခဲ့၏။ သို့မှသာလျှင် ယင်းသံချပ်အင်္ကျီသည် အသင်တို့အား အသင်တို့ စစ်တိုက်ခိုက်ရာတွင် ကာကွယ်နိုင်မည်ဖြစ်ပေသည်။ သို့ဖြစ်ပေရာ အသင်တို့သည် ကျေးဇူးတော်ကို သိတတ်သူများ ဖြစ်ကြလေသလော။

---

➤➤ ဤအာယတ်တော်များတွင် အဆိုပါ သားအဘ နှစ်ဦးတို့၏ အဆုံးအဖြတ် တစ်ရပ်ကို ရည်ညွှန်းမိန့်ဆိုထားတော်မူသည်။ တစ်ခါသော် တမန်တော် ဒါဝူဒ်ထံသို့ အဆုံးအဖြတ်နာယူရန်အတွက် အမှုတစ်ခုရောက်ရှိလာခဲ့၏။ ပုဂ္ဂိုလ်တစ်ဦး၏ လယ်ယာတွင် အချို့ပုဂ္ဂိုလ်များ၏ ဆိတ်များသည် ညဥ့်အချိန်၌ ဝင်ရောက်ဖျက်ဆီးသွားခဲ့၏။ လယ်ယာသည် အတော်ပင် ပျက်စီးသွားခဲ့၏။ ပျက်စီးသွားသော လယ်ယာ၏ တန်ဖိုးမှာ ဝင်ရောက်ဖျက်ဆီးသွားသော ဆိတ်များ၏ တန်ဖိုးနှင့် ညီမျှနေ၏။ တမန်တော်ဒါဝူဒ်သည် တရားလို တရားခံတို့၏ စကား၊ အမှုသွားအမှုလာ၊ အဖြစ်အပျက်အခြေအနေ အရပ်ရပ်တို့ကို ကြားနာလေ့လာ၍ လယ်ရှင်၏ ဆုံးရှုံးနစ်နာမှုမှာ ဝင်ရောက်ဖျက်ဆီးသွားသော ဆိတ်များ၏ တန်ဖိုးနှင့် ညီမျှနေသည်ကို စဉ်းစားဆင်ခြင်မြော်မြင်ပြီး၊ အဆိုပါဆိတ်များကိုပင် လျော်ကြေးအဖြစ် သက်ဆိုင်ရာလယ်ရှင်အား ပေးအပ်ရန် အဆုံးအဖြတ် ပေးလိုက်လေသည်။

အဆိုပါ အဆုံးအဖြတ်နှင့် စပ်လျဉ်း၍ သားတော် တမန်တော်စုလိုင်မာန်က ဖြည့်စွက်အကြံပေးခဲ့သည်မှာ-ဖခင်ကြီး၏ အဆုံးအဖြတ်မှာ တရားတော်အရ မှန်ကန်ပါသည်။ အဆုံးအဖြတ်ပေးရာတွင် တရားလို တရားခံတို့၏ ကျေနပ်နှစ်သက်မှုကို ထောက်ထားရန်လည်း မလိုပါ။ သို့ရာတွင် ဤအဆုံးအဖြတ်အရဆိုလျှင် ဆိတ်ရှင်များသည် လုံးဝအရှုံးဘက်တွင် ရောက်ရှိနေကြပါသည်။ ထို့အတွက် ဖျန်ဖြေသည့်သဘောဖြင့် နှစ်ဦးနှစ်ဘက်အား ထောက်ထားရလည်းကျ၊ နှစ်ဦးနှစ်ဘက်၏ ကျေနပ်မှုလည်းရ၊ လွယ်ကူမှုလည်း ရှိစေရန်အလို့ငှာ ဆိတ်ရှင်များသည် မိမိတို့၏ ဆိတ်များကို သင့်တော်သည့်အချိန်အထိ လယ်ရှင်အား ပေးအပ်ထားကြရမည်။ လယ်ရှင်သည် ထိုဆိတ်များ ထိန်းကျောင်း၍ ထိုဆိတ်များမှ နို့ရည်၊ အမွေး စသည်များကို အကျိုးခံစားခွင့်ရှိစေရမည်။ လယ်ရှင်သည် မိမိ၏ ပျက်စီးနေသော လယ်ယာကို ဆိတ်ရှင်များအား သင့်တော်သည့်အချိန်အထိ ပေးအပ်ထားရမည်။ ဆိတ်ရှင်များသည် ပျက်စီးနေသော လယ်ယာများကို ယခင်မူလအတိုင်း ပြန်လည်ဖြစ်ရှိလာသည်အထိ ပြုစုပျိုးထောင်ပေးကြရမည်။ လယ်ရှင်၏ လယ်ယာများသည် ယခင်မူလအတိုင်း ပြန်လည်ဖြစ်ရှိလာသည့်အခါ ဆိတ်များနှင့် လယ်ယာများကို သက်ဆိုင်ရာပိုင်ရှင် အသီးသီးတို့အား ပြန်လည်အပ်ကြရမည်။ ဤသည် သားတော် တမန်တော်စုလိုင်မာန်၏ အကြံပေး ဆုံးဖြတ်ချက်တည်း။

တမန်တော်ဒါဝူဒ်သည် သားတော် စုလိုင်မာန်၏ အကြံပေးဆုံးဖြတ်ချက်ကို ကြားသိသောအခါ ကျေနပ်နှစ်သက်စွာနှင့် လက်ခံအတည်ပြုလိုက်လေသည်။ တမန်တော် သားအဖ နှစ်ပါးလုံး၏ အဆုံးအဖြတ်သည် မှန်ကန်သည်။ သို့ရာတွင် သားတော် တမန်တော်စုလိုင်မာန်၏ အဆုံးအဖြတ်သည် ပိုမိုလျော်ကန် သင့်မြတ်လှပေသည်။ ဤသည် အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်၏ အကျိုးပင်။ (မာဂျိဒီ)

وَلِسُلَيْمٰنَ الرِّيْحَ عَاصِفَةً تَجْرِيْ بِاَمْرِهٖٓ اِلَى الْاَرْضِ الَّتِيْ بٰرَكْنَا فِيْهَا ۭ وَكُنَّا بِكُلِّ شَيْءٍ عٰلِمِيْنَ ۝٨١

၈၁။ ထိုမှတပါး (ငါအရှင်မြတ်သည်) စုလိုင်မာန်အား *ပြင်းထန်စွာတိုက်ခတ်သောလေကို နိုင်နင်းစေတော်မူခဲ့၏။* [၁] ယင်းလေသည် ထိုစုလိုင်မာန်၏အမိန့်နှင့် ငါအရှင်မြတ်ကျက်သရေမင်္ဂလာ၊ သုခချမ်းသာနှင့်ပြည့်စုံစေတော်မူသော နယ်မြေသို့ တိုက်ခတ်သွားလာလေ၏။ စင်စစ်သော်ကား ငါအရှင်မြတ်သည် အရာခပ်သိမ်းတို့ကို အကြွင်းမဲ့သိတော်မူသောအရှင်မြတ်ပင်ဖြစ်တော်မူပေသတည်း။

وَمِنَ الشَّيٰطِيْنِ مَنْ يَّغُوْصُوْنَ لَهٗ وَيَعْمَلُوْنَ عَمَلًا دُوْنَ ذٰلِكَ ۚ وَكُنَّا لَهُمْ حٰفِظِيْنَ ۝٨٢

၈၂။ ထိုမှတပါးရှိုင်တွာန်မိစ္ဆာကောင်တို့တွင် အကြင်ရှိုင်တွာန် မိစ္ဆာကောင်များလည်း ရှိခဲ့ကြ၏။ ယင်း *ရှိုင်တွာန် မိစ္ဆာကောင်များသည် ထိုစုလိုင်မာန်၏အကျိုးငှာ (သမုဒ္ဒရာပင်လယ်၌) ရေငုပ်ခြင်းကိုလည်းကောင်း၊ အခြားအလုပ်ကိစ္စ ဆောင်ရွက်ခြင်းကိုလည်းကောင်း၊ ပြုလုပ်ကြကုန်၏။* [၂] စင်စစ်သော်ကား ငါအရှင်မြတ်သည်ပင် ယင်းရှိုင်တွာန် မိစ္ဆာကောင်တို့အား ထိန်းသိမ်းစောင့်ရှောက်တော်မူသောအရှင်မြတ်ဖြစ်တော်မူပေသတည်း။

---

(၁) **တမန်တော် စုလိုင်မာန်၏ ပလ္လင်ပျံ။**

တမန်တော် စုလိုင်မာန်သည် အလ္လာဟ်အရှင်မြတ် အထံတော်၌ "အို-ကျွန်တော်မျိုး၏ အရှင်သခင်၊ ကျွန်တော်မျိုးအား ချမ်းသာခွင့်ပေးတော်မူပါ။ ကျွန်တော်မျိုးအား ကျွန်တော်မျိုး၏နောက်တွင် မည်သူ တစ်ဦးတစ်ယောက်အဖို့မျှ မထိုက်တန်သော အုပ်စိုးမှုကို ချီးမြှင့်တော်မူပါ" ဟု ဆုပန်ကြားခဲ့ရာ အလ္လာဟ်အရှင်မြတ်သည် လေနှင့်ဂျင်န်များကို တမန်တော် စုလိုင်မာန်၏ အာဏာစက်အောက်တွင် ထားရှိပေးတော်မူခဲ့လေသည်။

ကြည့်-ကုရ်အာန် (၃၈း၃၀-၃၉)။

တမန်တော် စုလိုင်မာန်သည် ပလ္လင်တစ်ခု ပြုလုပ်ထား၏။ ခရီးသွားသည့်အခါ ထိုပလ္လင်ပေါ်တွင် မိမိနှင့်တကွ မှူးမတ်များကိုလည်း ထိုင်စေ၏။ လိုရာပစ္စည်းများကိုလည်း တင်ဆောင်စေတော်မူ၏။ ထို့နောက် တမန်တော် စုလိုင်မာန်၏ အမိန့်ဖြင့် လေသည်ရောက်ရှိလာပြီး ထိုသည့်ပလ္လင်ကို အဟုန်ပြင်းစွာ တိုက်ခတ်၍ ကောင်းကင်သို့ မ,ယူပြီး လိုရာဌာနသို့ ဖြည်းညှင်းသာယာစွာ ပို့ဆောင်ပေးလေသည်။ တမန်တော် စုလိုင်မာန်သည် ယမန်ပြည်မှ ဆီးရီးယားပြည်၊ ဆီးရီးယားပြည်မှ ယမန်ပြည်သို့ တစ်လခရီးကို နေ့ဝက်အတွင်း ပလ္လင်ပျံဖြင့် သွားလာလေ့ရှိခဲ့သည်။ ကြည့်-ကုရ်အာန် (၃၄း၁၂)။

وَاَيُّوْبَ اِذْ نَادٰى رَبَّهٗٓ اَنِّيْ مَسَّنِيَ الضُّرُّ وَاَنْتَ اَرْحَمُ الرّٰحِمِيْنَ ﴿٨٣﴾

၈၃။ ၎င်းပြင် (အို-နဗီတမန်တော်၊ အသင်သည် နဗီတမန်တော်)အိုက်ယူးဗ်(၏ အတ္တုပ္ပတ္တိအကြောင်း) ကို(လည်း ထုတ်ဖော်ပြောကြားပါလေ)။ တစ်ရံသော အခါဝယ် ထိုအိုက်ယူးဗ်သည် မိမိအား ဖန်ဆင်းမွေးမြူ တော်မူသောအရှင်မြတ်အား (အို-ကျွန်တော်မျိုးအား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်၊) ဧကန်မလွဲ ကျွန်တော်မျိုး၌ ဘေးဥပဒ်သက်ရောက်ပါပြီ။ စင်စစ် သော်ကား အရှင်မြတ်သည် သနားကရုဏာ ပြုတတ် သူတို့တွင် သနား ကရုဏာ ပြုတော်မူဆုံးသော အရှင်မြတ်ပင် ဖြစ်တော်မူပါသည်ဟု ဟစ်ခေါ်တသ ပန်ကြားခဲ့လေ၏။

فَاسْتَجَبْنَا لَهٗ فَكَشَفْنَا مَا بِهٖ مِنْ ضُرٍّ وَّاٰتَيْنٰهُ اَهْلَهٗ وَمِثْلَهُمْ مَّعَهُمْ رَحْمَةً مِّنْ عِنْدِنَا وَذِكْرٰى لِلْعٰبِدِيْنَ ﴿٨٤﴾

၈၄။ ထိုအခါ ငါအရှင်မြတ်သည် ထိုအိုက်ယူးဗ်၏ အသနားခံပန်ကြားချက်ကို သဘောတူ လက်ခံတော် မူခဲ့၏။ သို့ဖြစ်ပေရာ ငါအရှင်မြတ်သည် ထိုအိုက်ယူးဗ် ၌ သက်ရောက်ခဲ့သော ဘေးဥပဒ်ကို ပျောက်ကင်းစေ တော်မူခဲ့၏။ ထိုမှတပါး ငါအရှင်မြတ်သည် ထို အိုက်ယူးဗ်အား ၎င်း၏အိမ်ထောင်စုသား၊ သားမယား၊ သားသမီးများ(ကို ချီးမြှင့်ပေးသနားတော်မူခဲ့သည့်) အပြင် ထိုသူတို့နှင့်အတူ ထိုသူတို့ကဲ့သို့ အလားတူ

---

(၂) **တမန်တော် စုလိုင်မာန်၏ "ဂျင်န်" အလုပ်သမားများ၊**

အလ္လာဟ်အရှင်မြတ်သည် တမန်တော် စုလိုင်မာန်၏ ဆုပန်ကြားချက်အရ၊ တမန်တော် စုလိုင်မာန်၏ အာဏာစက်အောက်တွင် လေကို ထားသကဲ့သို့ ဦးခေါင်းမာသော ဆိုးသွမ်းသော ဂျင်န်များကိုလည်း ထားပေးတော်မူခဲ့သည်။ ယင်း ဂျင်န်များသည် တမန်တော် စုလိုင်မာန် စေခိုင်းသည့်အတိုင်း အလွန်ကြီးလေး ပြင်းထန်သော လုပ်ငန်းများကို ကျေပွန်စွာ လုပ်ဆောင်ပေးခဲ့ကြရသည်။

ဥပမာ-ဂျင်န်များသည် တမန်တော် စုလိုင်မာန်အဖို့ သမုဒ္ဒရာ ပင်လယ်များတွင် ရေငုပ်၍ ပုလဲများကို ကောက်ယူပေးကြရသည်။ ကြီးမားသော ဝတ်ကျောင်းများ၊ တိုက်တာ ဂေဟာများကို ဆောက်လုပ်ပေးကြရသည်။ ရေကန်ကြီးများတမျှ ကြီးမားသော သံဒယ်အိုးကြီးများကို သွန်းလောင်း ပြုလုပ်ပေးကြရသည်။ လိုရာသို့လည်း ပို့ဆောင်ပေးကြရသည်။ ဤအကြောင်း ကုရ်အာန် (၃၄း၁၂-၁၃။ ၃၈း၃၇-၃၈) တွင်လည်း မိန့်ဆိုထားတော်မူသည်။

ကိုလည်း မိမိအထံတော်မှ ကရုဏာတော်အဖြစ်လည်း ကောင်း၊ ဝတ်ပြုကိုးကွယ်သူများအဖို့ သတိရစေသော အထိမ်းအမှတ်အဖြစ်လည်းကောင်း ချီးမြှင့်ပေးသနားတော်မူခဲ့ပေသတည်း။

وَاِسْمٰعِيْلَ وَاِدْرِيْسَ وَذَا الْكِفْلِ ۭ كُلٌّ مِّنَ الصّٰبِرِيْنَ ۝ ٨٥

**၈၅။** ၎င်းပြင် (အို- နဗီတမန်တော်၊ အသင်သည် နဗီတမန်တော်)အိစ်မာအီလ်၊ (နဗီတမန်တော်)အိဒ္ဒရီစ်၊ (နဗီတမန်တော်)ဇူလ်ကီဖ်လ်တို့(၏ အတ္ထုပ္ပတ္တိ အကြောင်းများ)ကိုလည်း (ထုတ်ဖော်ပြောကြားပါလေ။ ထိုနဗီတမန်တော်)အသီးသီးတို့သည် ခန္တီတရားရှိသူတို့တွင် ပါဝင်ခဲ့ကြကုန်၏။

وَاَدْخَلْنٰهُمْ فِيْ رَحْمَتِنَا ۭ اِنَّهُمْ مِّنَ الصّٰلِحِيْنَ ۝ ٨٦

**၈၆။** ထိုမှတပါး ငါအရှင်မြတ်သည် ၎င်း(နဗီတမန်တော်)တို့အားမိမိကရုဏာတော်အတွင်း ပါဝင်စေတော်မူခဲ့၏။ ဧကန်စင်စစ် ထို နဗီတမန်တော်တို့ကား သူတော်စင်တို့တွင် ပါဝင်ခဲ့ကြကုန်သတည်း။

وَذَا النُّوْنِ اِذْ ذَّهَبَ مُغَاضِبًا فَظَنَّ اَنْ لَّنْ نَّقْدِرَ عَلَيْهِ

**၈၇။** ထို့ပြင် (အို-နဗီတမန်တော်၊ အသင်သည်) *"ဇွန်နွန်" ငါးရှင်* ① (နဗီတမန်တော် ယူနွတ်စ်၏ အတ္ထုပ္ပတ္တိအကြောင်း)ကိုလည်း (ပြောကြားပါလေ)။ တစ်ရံရောအခါဝယ် ထိုငါးရှင် (နဗီတမန်တော် ယူနွတ်စ်)သည် (မိမိ၏ အမျိုးသားတို့အပေါ်ဝယ်) ဒေါသအမျက်ထွက်ကာ (မိမိမြို့ရွာဒေသမှထွက်ခွာ၍) သွားခဲ့လေသည်။ ②

① **တမန်တော် ယူနွတ်စ်။**

**မှတ်ချက်။** တမန်တော် ယူနွတ်စ် (အလိုင်ဟစ္စလာမ်)၏အကြောင်း ကုရ်အာန် (၄း၁၆၃။ ၆း၈၇။ ၁၀း၉၈။ ၂၁း၈၇-၈၈။ ၃၇း၁၃၉-၁၄၈။ ၆၈း၄၈-၅၀)တွင် ပါရှိသည်။ တမန်တော် ယူနွတ်စ်၏ အကြောင်းနှင့်စပ်လျဉ်း၍ ကုရ်အာန် (၄း၁၆၃။ ၆း၈၇။ ၁၀း၉၈)၏ အဖွင့်များတွင် အကျယ်ရေးသားခဲ့ပါပြီ။

② တမန်တော် ယူနွတ်စ် (အလိုင်ဟစ္စလာမ်)သည် ဇနီဝါ မြို့သူမြို့သားများ၏ စိတ်ဓာတ်ခဲယဉ်းမှု၊ ဆိုးသွမ်းမှု၊ သွေဖည်ငြင်းဆန် မနာခံမှုများကြောင့် ဒေါသထွက်ကာ အလ္လာဟ်အရှင်မြတ်ထံမှ ဝဟီအမိန့်တော်ကို မစောင့်မိတော့ဘဲ မြို့သူမြို့သားများကိုစွန့်ပြီး မြို့မှထွက်ခွာလာခဲ့လေသည်။ ဤသို့ ပြုမူသည့်အတွက် ➤➤

فَنَادٰى فِى الظُّلُمٰتِ اَنْ لَّآ اِلٰهَ اِلَّآ اَنْتَ سُبْحٰنَكَ ۖ اِنِّىْ كُنْتُ مِنَ الظّٰلِمِيْنَ ۚ ﴿٨٧﴾

တဖန် ထိုငါးရှင်က ငါအရှင်မြတ်သည် ၎င်း၏အပေါ်၌ အလျှင်း ကျပ်တည်းစေတော်မူသည် မဟုတ်ဟူ၍ထင်မြင်ခဲ့လေသည်။ ထို့နောက် ၎င်းသည် အမှောင်များအတွင်း၀ယ် ⁽(*အို-အလ္လာဟ်အရှင်မြတ်၊) အရှင်မြတ် မှတပါး ခဝပ်ကိုးကွယ်ရာ အရှင်ဟူ၍ အလျှင်းမရှိပါ။ အရှင်မြတ်သည် စင်ကြယ် သန့်ရှင်းတော်မူပါ၏။ ကေန်မလွဲ ကျွန်တော်မျိုးသည် သာလျှင် အပြစ်ကျူးလွန်သူဖြစ်ပါ၏တကား* ⁾ ဟု ဟစ်ခေါ်တသ အသနားခံ ပန်ကြားခဲ့လေသည်။

---

➤➤ အလ္လာဟ်အရှင်မြတ်သည် မိမိအား အလျှင်း အရေးယူတော်မူမည်မဟုတ်၊ (တစ်နည်း) အကျပ်ကိုင်တော်မူမည် မဟုတ်ဟူ၍ လည်း ထင်မှတ်ခဲ့လေသည်။ ဤသည်တမန်တော် ယူနွတ်စ်၏ "အိဂ်ျတိဟာဒီ ဃလတီ" အယူအဆ အဆင်ခြင် ဝေဖန်ပိုင်းခြားခြင်း၏ တိမ်းစောင်းမှုပင်ဖြစ်သည်။ ဤသို့ တိမ်းစောင်းမှုသည် သာမန်နောက်လိုက်တပည့်သားတို့အဖို့ ခွင့်လွှတ်နိုင်သော ကိစ္စဖြစ်သော်လည်း တမန်တော်တစ်ပါးအဖို့မှာကား တာဝန်ရှိပေသည်။ တမန်တော်များကား သာမန်ပုဂ္ဂိုလ်များ မဟုတ်ကြပေ။ တမန်တော်ဂုဏ်ဖြင့် ချီးမြှင့်တော်မူခြင်းခံကြရသော အလ္လာဟ်အရှင်မြတ်၏ တမန်တော်များဖြစ်ကြပေသည်။ အလ္လာဟ်အရှင်မြတ်နှင့် အလွန်နီးစပ်ကြပေသည်။ ၎င်းတို့ထံသို့ အလ္လာဟ်အရှင်မြတ်ထံတော်မှ အကြောင်းအားလျော်စွာ (ဝဟီ) အမိန့်တော်များလည်း ကျရောက်လာပေသည်။ ၎င်းတို့၏ တာဝန်ကား ကြီးလေးလှပေသည်။

အလ္လာဟ်အရှင်မြတ် အထံတော်မှ (ဝဟီ) အမိန့်တော် ကျရောက်လာနိုင်ဖွယ်ရာ ဖြစ်သော ကိစ္စမျိုးတွင် အမိန့်တော်ကို မစောင့်မျှော်ဘဲ မိမိ၏အမျိုးသားများအား စွန့်၍ မြို့မှထွက်ခွာလာခဲ့ခြင်းသည် တမန်တော်တစ်ပါးအဖို့မသင့်လျော်ပေ။ ထို့အတွက်ကြောင့်လည်း အလ္လာဟ်အရှင်မြတ်သည် တမန်တော်ယူနွတ်စ်အား အရေးယူတော်မူခဲ့ခြင်း ဖြစ်သည်။ တမန်တော် ယူနွတ်စ်သည်လည်း နောက်ဆုံးတွင် အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်ဖြင့် ထိုအရှင်မြတ်ထံတော်၌ ဝန်ချတောင်းပန်ပြီး လွတ်မြောက်၍ မိမိ၏အမျိုးသားများထံသို့ ကောင်းမွန်စွာ ပြန်လည်ရောက်ရှိလာခဲ့ပေသည်။

အလ္လာဟ်အရှင်မြတ်သည် အချို့သာမန် အသေးအဖွဲ ကိစ္စကလေးများနှင့် စပ်လျဉ်း၍ တာဝန်မရှိသောလူသာမန်တို့အား အရေးယူတော်မူလေ့ မရှိသော်လည်း မိမိနှင့် အလွန်နီးစပ်သော၊ တာဝန်ရှိသော ပုဂ္ဂိုလ်များကိုကား ပြင်းထန်စွာ အရေးယူတော်မူလေ့ရှိသည်။ ဆိုလိုသည်ကား အလ္လာဟ်အရှင်မြတ်နှင့် နီးစပ်သော၊ တာဝန်ရှိသော ရှေ့ဆောင်ရှေ့ရပ်တို့ကား တာဝန်ကြီးသည်နှင့်အမျှ အနေအထိုင်၊ အပြောအဆို၊ အပြုအမူ၊ အယူအဆ ဟူဟူသမျှတွင် သာမန်တိမ်းစောင်းမှုကိုပင် မကျူးလွန်မိကြရန် သတိဝီရိယကြီးစွာ ထားရှိကြရမည် ဟူသတည်း။

(၁) ဤအာယတ်တော်တွင် "တမန်တော်ယူနွတ်စ်သည် အမှောင်များတွင် ဟစ်ခေါ်ပန်ကြားခဲ့သည်" ဟူ၍ လာရှိသည်။ "အမှောင်များ" ဟူသည် ရေထု၏အမှောင်၊ ငါး၏ ဝမ်းဗိုက်၏အမှောင်နှင့် အချို့အဆိုအရ ညဉ့်၏အမှောင်များကို ဆိုလိုသည်။ ကြည့်-ထာနဝီ။

فَاسْتَجَبْنَا لَهُ وَنَجَّيْنَٰهُ مِنَ الْغَمِّ وَكَذَٰلِكَ نُـۨجِي الْمُؤْمِنِينَ ٨٨

၈၈။ ထိုအခါဝယ် ငါအရှင်မြတ်သည် ၎င်း၏ (အသနားခံပန်ကြားချက်)ကို သဘောတူလက်ခံတော်မူ၍ ၎င်းအား(ပူပင်သောကဖြစ်ခြင်းမှ)ကယ်တင်တော်မူခဲ့၏။ စင်စစ်သော်ကားငါအရှင်မြတ်သည် မုအ်မင်န်သက်ဝင်ယုံကြည်သူတို့အားဤနည်းနှင်နှင် ကယ်တင်လေ့ရှိတော်မူပေသတည်း။

وَزَكَرِيَّا إِذْ نَادَىٰ رَبَّهُ رَبِّ لَا تَذَرْنِي فَرْدًا وَأَنتَ خَيْرُ الْوَارِثِينَ ٨٩

၈၉။ ထို့ပြင် (အို-နဗီတမန်တော်၊ အသင်သည် နဗီတမန်တော်)ဇကရီယာ(၏ အကြောင်း)ကိုလည်း (ပြောကြားပါလေ)။ အခါတပါး၌ ထို(နဗီတမန်တော်)ဇကရီယာသည် မိမိအား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်ကို "အို-ကျွန်တော်မျိုးအား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်၊ ကျွန်တော်မျိုးအား (အမွေစားအမွေဆက်ခံသူ မရှိသောသူအဖြစ်) တစ်ဦးထီးတည်း စွန့်ထားတော်မမူပါနှင့်။ စင်စစ်သော်ကား အရှင်မြတ်သည် အကောင်းဆုံးသော အမွေစားအမွေခံ ဖြစ်တော်မူပါသည်"ဟု ဟစ်ခေါ်တသ ပန်ကြားခဲ့လေ၏။

فَاسْتَجَبْنَا لَهُ وَوَهَبْنَا لَهُ يَحْيَىٰ وَأَصْلَحْنَا لَهُ زَوْجَهُ

၉၀။ ထိုရောအခါဝယ် ငါအရှင်မြတ်သည် ထို (နဗီတမန်တော်) ဇကရီယာ(၏ ပန်ကြားချက်)ကို သဘောတူ လက်ခံတော်မူ၍ ၎င်းအား (သားတော် နဗီတမန်တော်)ယဟ်ယာကို ချီးမြှင့် ပေးသနားတော်မူခဲ့၏။ ၎င်းပြင် ငါအရှင်မြတ်သည် ထိုဇကရီယာ၏ ဇနီးကြင်ရာ(၏)မြုံခြင်းဝေဒနာကို ပျောက်ကင်းစေတော်

---

(၂) ဤသည် ငါး၏ဝမ်းဗိုက်တွင် တမန်တော်ယူနွတ်စ်(အလိုင်ဟစ္စလာမ်) တောင်းဆိုပန်ကြားခဲ့သော ဆုမွန်ပင် ဖြစ်သည်။ ဒုက္ခဖြစ်သည့်အချိန် မည်သူမဆို စိတ်စေတနာဖြူစင်စွာဖြင့် တမန်တော်ယူနွတ်စ်၏ ဆုမွန်ကို ရွတ်ဖတ်ပန်ကြားပါက ဆုတောင်းပြည့်သည်သာ ဖြစ်သည်။

တမန်တော်မြတ်က "မည်သူမဆို တမန်တော်ယူနွတ်စ်၏ ဆုမွန်ကို ရွတ်ဖတ်ပန်ကြားပါက ထိုသူသည် ဆုတောင်းပြည့်သည်" ဟု မိန့်ကြားတော်မူခဲ့လေသည်။ အိဗ်နုကဆီရ်။ (အ-၃၊ စ-၁၉၃)။

မှု၍သန္ဓေတည်နိုင်သောအခြေအနေသို့) နေသားတကျ ဖြစ်အောင် ပြုပြင်၍ ပေးတော်မူခဲ့၏။

ဧကန်အမှန် ထို(နဗီတမန်တော်)တို့သည် ကောင်းမှုသုစရိုက်များကို ဆောလျင်စွာ ပြုလုပ်တတ်သူများ ဖြစ်ခဲ့ကြကုန်၏။ ထို့ပြင် ငါအရှင်မြတ်အား စိတ်ပါဝင်စားစွာလည်းကောင်း၊ ကြောက်ရွံ့စွာလည်းကောင်း၊ ဟစ်ခေါ်တသလေ့ရှိခဲ့ကြကုန်၏။ ထိုမှတပါး ၎င်းတို့သည် ငါအရှင်မြတ်အား ကျိုးနွံသူများလည်း ဖြစ်ခဲ့ကြကုန်သတည်း။

إِنَّهُمْ كَانُوا يُسَارِعُونَ فِي الْخَيْرَاتِ وَيَدْعُونَنَا رَغَبًا وَرَهَبًا ۖ وَكَانُوا لَنَا خَاشِعِينَ ﴿٩٠﴾

၉၁။ ၎င်းပြင် (အို-နဗီတမန်တော်၊ အသင်သည်) အကြင်အမျိုးသမီး၏ အတ္ထုပ္ပတ္တိအကြောင်းကိုလည်း (ပြောကြားပါလေ)။ ထို(အမျိုးသမီး)သည် မိမိဂုဏ်အသရေကို စောင့်စည်းထိန်းသိမ်းခဲ့လေ၏။ သို့ဖြစ်ပေရာ ငါအရှင်မြတ်သည် ထို(အမျိုးသမီး)၌ မိမိအထံတော်မှ အသက်ဇီဝိန်ကို မှုတ်သွင်းတော်မူခဲ့၏။ ထို့ပြင် ငါအရှင်မြတ်သည် ထို(အမျိုးသမီး)အားလည်းကောင်း၊ ထို(အမျိုးသမီး)၏ သားတော်အားလည်းကောင်း၊ ကမ္ဘာသူကမ္ဘာသားခပ်သိမ်းတို့အဖို့သက်သေလက္ခဏာတော်တစ်ရပ် ပြုလုပ်တော်မူခဲ့ပေသတည်း၊)

وَالَّتِي أَحْصَنَتْ فَرْجَهَا فَنَفَخْنَا فِيهَا مِنْ رُوحِنَا وَجَعَلْنَاهَا وَابْنَهَا آيَةً لِلْعَالَمِينَ ﴿٩١﴾

၉၂။ ဧကန်မလွဲ ဤ(အစ္စလာမ်သာသနာတော်ပင်) အသင်တို့၏ တစ်ခုတည်းသော သာသနာတော်ဖြစ်ပေသည်။ [၁] ၎င်းပြင် ငါအရှင်မြတ်သည်ပင် အသင်တို့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင် ဖြစ်တော်မူပေသည်။ သို့ဖြစ်ပေရာ အသင်တို့သည် ငါအရှင်မြတ်အားသာလျှင် ခဝပ်ကိုးကွယ်ကြလေကုန်။

إِنَّ هَٰذِهِ أُمَّتُكُمْ أُمَّةً وَاحِدَةً وَأَنَا رَبُّكُمْ فَاعْبُدُونِ ﴿٩٢﴾

(၁) **တစ်ဆူတည်းသောကိုးကွယ်ရာ၊ တစ်ခုတည်းသောသာသနာနှင့် တစ်စုတည်းသောတမန်တော်များ**

အထက်တွင် ကုရ်အာန်(၂၁း၄၈-၉၁)၌ တမန်တော်မူစာ၊ တမန်တော်ဟာရူန်၊ တမန်တော် ➤➤

وَتَقَطَّعُوٓا۟ أَمْرَهُم بَيْنَهُمْ ۖ كُلٌّ إِلَيْنَا رَٰجِعُونَ ﴿٩٣﴾

၉၃။ သို့ရာတွင် လူတို့သည် မိမိတို့ အချင်းချင်းပင် မိမိတို့၏(သာသနာ့)အရေးကိစ္စကို အပိုင်းပိုင်း ပြုလုပ်ခဲ့ကြကုန်၏။ (စင်စစ်သော်ကား) အားလုံးတို့သည် ငါအရှင်မြတ်အထံတော်သို့သာလျှင် ပြန်လည်၍ လာကြရမည့်သူများပင် ဖြစ်ကြကုန်၏။

فَمَن يَعْمَلْ مِنَ ٱلصَّـٰلِحَـٰتِ وَهُوَ مُؤْمِنٌ فَلَا كُفْرَانَ لِسَعْيِهِۦ وَإِنَّا لَهُۥ كَـٰتِبُونَ ﴿٩٤﴾

၉၄။ သို့ဖြစ်ပေရာ မည်သူမဆို ကောင်းမြတ်သော အကျင့်သီလများကို ကျင့်မူအံ့။ ၎င်းပြင် ထိုသူသည် “မုအ်မင်န်” သက်ဝင် ယုံကြည်သူလည်း ဖြစ်အံ့။ သို့ဖြစ်လျှင် ထိုသူ၏ ကြိုးပမ်းအားထုတ်မှုသည် ပယ်ရှားခြင်းခံရမည် မဟုတ်ပေ။

➤➤ အီဗ်ရာဟီမ်၊ တမန်တော်လူတ်၊ တမန်တော်အစ္စဟာက်၊ တမန်တော်ယအ်ကူးဗ်၊ တမန်တော်နူဟ်၊ တမန်တော်ဒါဝူဒ်၊ တမန်တော်စုလိုင်မာန်၊ တမန်တော်အိုင်ယူးဗ်၊ တမန်တော်အစ္စမာအီလ်၊ တမန်တော်အိဒ္ဒရီစ်၊ တမန်တော်ဇုလ်ကိဖ်လ်၊ တမန်တော်ယူနွတ်စ်၊ တမန်တော်ဇကရီယာ၊ တမန်တော်ယဟ်ယာ၊ မရ်ယမ်သခင်မနှင့် သားတော် တမန်တော်အီစာတို့၏ အကြောင်းကို မိန့်ဆိုထားတော်မူသည်။ ယခု ဤအာယတ်တော်များတွင် ၎င်းတို့နှင့်ပတ်သက်၍ ၎င်းတို့၏ကိုးကွယ်ရာ၊ ၎င်းတို့၏သာသနာ၊ ၎င်းတို့ တညီတညွတ်တည်း ရှိခဲ့ကြပုံ၊ လူသားတို့ အချင်းချင်း သဘောကွဲလွဲလာခဲ့ကြပုံနှင့် လွတ်မြောက်ရာလမ်းစဉ်ကို အချုပ်အားဖြင့် မိန့်ဆိုထားတော်မူသည်။

ဆိုလိုသည်ကား အမှန်တကယ် ကိုးကွယ်ရာ အရှင်သည်လည်း တစ်ဆူတည်းသော အလ္လာဟ်အရှင်မြတ်ပင် ဖြစ်တော်မူပေသည်။ နာယူကျင့်မူရာ မူလ၊ အဓိက အခြေခံ သာသနာသည်လည်း တစ်ခုတည်းပင် ဖြစ်ပေသည်။ ပွင့်လေသမျှသော တမန်တော်အပေါင်းတို့သည်လည်း ထိုသည့်တစ်ခုတည်းသော အခြေခံသာသနာ အပေါ်၌ တညီတညွတ်တည်း၊ တပေါင်းတစည်းတည်းပင် တည်ရှိခဲ့ကြပေသည်။ အချုပ်အားဖြင့် ဆိုရသော် အလ္လာဟ်အရှင်မြတ်လည်း တစ်ပါးတည်း၊ သာသနာလည်း တစ်ခုတည်း၊ တမန်တော် အပေါင်းသည်လည်း တညီတညွတ်တည်း ဖြစ်ခဲ့ကြကုန်၏။

ခေတ်၊ ပတ်ဝန်းကျင်၏ ကွဲပြားမှုကြောင့် ‘ရှရီအတ်’ သာသနာရေးဆိုင်ရာ နည်းဥပဒေများသည်သာ ကွဲပြားခဲ့ပေသည်။ သာသနာရေးဆိုင်ရာ အခြေခံသဘောတရားများတွင်ကား ကွဲပြား ခြားနားမှု အလျှင်းမရှိပေ။ သတိသမ္ပစဉ် ဉာဏ်အမြော်အမြင်နှင့် ယှဉ်ကြည့်ပါကလည်း ဤအတိုင်းပင် ဖြစ်ရပေမည်။ သို့ဖြစ်ပေရာ လူသားအားလုံးတို့သည်လည်း တစ်ဆူတည်းသော အလ္လာဟ်အရှင်မြတ်အား ဆည်းကပ်ကိုးကွယ်၍ တမန်တော်အပေါင်းတို့ တညီတညွတ်တည်း နာယူကျင့်မူခဲ့ကြကုန်သော တစ်ခုတည်းသော သာသနာကို စွဲမြဲစွာ ဆုပ်ကိုင်ပြီး လိုက်နာကျင့်သုံးကြရပေမည်။

မချွတ်ဧကန် ငါအရှင်မြတ်သည် ယင်းအားထုတ်မှုကို *ရေးသားတော်မူသော အရှင်မြတ်ပင်ဖြစ်တော်မူပေသတည်း။* [၁]

وَحَرٰمٌ عَلٰى قَرْيَةٍ اَهْلَكْنٰهَآ اَنَّهُمْ لَا يَرْجِعُوْنَ ﴿٩٥﴾

**၉၅။** စင်စစ်သော်ကား မည်သည့်မြို့ရွာမဆို ငါအရှင်မြတ်သည် ဖျက်ဆီးတော်မူခဲ့ပါလျှင် ထိုမြို့သူမြို့သားတို့အား (ဤလောကသို့ ၎င်းတို့ ပြန်လာကြရန် မဖြစ်နိုင်ပေ)။ [၂]

حَتّٰىٓ اِذَا فُتِحَتْ يَاْجُوْجُ وَمَاْجُوْجُ وَهُمْ مِّنْ كُلِّ حَدَبٍ يَّنْسِلُوْنَ ﴿٩٦﴾

**၉၆။** နောက်ဆုံးတွင် *'ယအ်ဂျူဂျ်နှင့်မအ်ဂျူဂျ်'* [၃] (လူမျိုးတို့သည် လွတ်လပ်ခဲ့ကြပြီ)၊ (ဖွင့်ပေးခြင်း ခံရသောအခါ) (ကမ္ဘာမြေဝယ်ရှိ) ကုန်းမြင့်တိုင်းမှ လျှင်မြန်စွာ (ဆင်း၍) လာကြပေမည်။

---

(၁) **လွတ်မြောက်ရာ လမ်းစဉ်။**

လွတ်မြောက်ရာလမ်းစဉ်ကား အခြားမဟုတ်၊အီမာန် ယုံကြည်မှုနှင့် ကောင်းမြတ်သော အကျင့်သီလ ဆောက်တည်မှုပင်ဖြစ်သည်။ မည်သူပင်ဖြစ်စေ လူမျိုးမရွေး၊ ခေတ်မရွေး၊ ဖို-မည်းမခြား အလ္လာဟ်အရှင်မြတ်အား အီမာန်ယုံကြည်၍ တရားတော်နှင့်အညီ ကောင်းမြတ်သော အကျင့်သီလများကို ဆောက်တည်ပါက ထိုသူသည် လွတ်မြောက်မည်သာဖြစ်သည်။ မိမိ ဆောက်တည်ခဲ့သော ကုသိုလ်အကျိုးများကို မုချ ခံစားရမည်သာဖြစ်သည်။ အဘယ်ကြောင့်ဆိုသော် အလ္လာဟ်အရှင်မြတ်၏ မှတ်တမ်းတော်တွင် အားလုံး ရေးသားထားပြီးဖြစ်ပေသည်။

(၂) **ကာဖိရ်များ၏ ဖြစ်အင်။**

အထက်တွင် လွတ်မြောက်ကြသည့် မုအ်မင်န်များ၏ အကြောင်းပါရှိ၏။ ယခု ဤအာယတ်တော်တွင် ၎င်းတို့နှင့် ဆန့်ကျင်ဘက်ဖြစ်သော ပြစ်ဒဏ်သင့်သော ကာဖိရ်များ၏ အကြောင်းကို မိန့်ဆိုထားတော်မူသည်။ ကာဖိရ်များသည် သေကြေပျက်စီးပြီးနောက် မိမိတို့ ကျူးလွန်ခဲ့ကြသော အပြစ်များနှင့် စပ်လျဉ်း၍ ဝန်ချတောင်းပန်ပြီး ကောင်းမြတ်သော အကျင့်သီလများကို ဆောက်တည်နိုင်ရန်အတွက် ကိယာမတ်မဖြစ်မီအလျင် ဤပစ္စက္ခဘဝသို့ ပြန်လာလိုကြသော်လည်း ပြန်လာနိုင်ကြမည် မဟုတ်ပေ။ ၎င်းတို့အဖို့ လမ်းတစ်ခုသာရှိသည်။ ၎င်းတို့သည် ကိယာမတ်နေ့တွင် ရှင်ပြန်ထကြသည့်အခါ ဝမ်းနည်းကြေကွဲကာ အလ္လာဟ်အရှင်မြတ်၏ ရှေ့တော်သို့ ရောက်ရှိလာကြရပေမည်။ ထိုအချိန်ကျမှ ဝမ်းနည်းကြေကွဲခြင်းကား အကျိုးမရှိတော့ပြီ။ အခါနှောင်းချေပြီ။

(၃) ကုရ်အာန်ကျမ်းမြတ်တွင် ယအ်ဂျူဂျ်နှင့် မအ်ဂျူဂျ်တို့ အကြောင်းနှစ်နေရာတွင် လာရှိသည်။

ကြည့်-ကုရ်အာန် (၁၈း၉၄။ ၂၁း၉၆)။

ယအ်ဂျူဂျ်နှင့် မအ်ဂျူဂျ်တို့၏ အကြောင်းနှင့်စပ်လျဉ်း၍ ကုရ်အာန်(၁၈း၉၄)တွင် အကျယ်ရေးသားခဲ့ပေပြီ။ ပြန်လည်ရှုပါကုန်။

وَاقْتَرَبَ الْوَعْدُ الْحَقُّ فَإِذَا هِيَ شَاخِصَةٌ أَبْصَارُ الَّذِينَ كَفَرُوا يَا وَيْلَنَا قَدْ كُنَّا فِي غَفْلَةٍ مِّنْ هَٰذَا بَلْ كُنَّا ظَالِمِينَ ﴿٩٧﴾

၉၇။ ၎င်းပြင် မှန်ကန်စွာ ချိန်းချက်ထားသောအချိန်ကာလ (ကိယာမတ်နေ့)သည် နီးကပ်၍ လာခဲ့သောအခါ ကာဖိရ် သွေဖည်ငြင်းပယ်သောသူတို့၏မျက်လုံးများကား ပြူးကျယ်လျက် ရှိကြပေမည်။

(ထိုအခါ ၎င်းတို့သည်) သြော်-ဖြစ်မှဖြစ်ရလေခြင်း၊ မချွတ်ဧကန် ကျွန်ုပ်တို့သည် ဤ(ကိယာမတ်နေ့)ကို ဂရုမထား မေ့လျော့၍သာ နေခဲ့ကြလေသည်။ စင်စစ်မှာကား ကျွန်ုပ်တို့သည်သာလျှင် အပြစ်ကျူးလွန်သူများ ဖြစ်ကြသည်ဟု ညည်းညူမြည်တမ်းကြပေမည်။

إِنَّكُمْ وَمَا تَعْبُدُونَ مِن دُونِ اللَّهِ حَصَبُ جَهَنَّمَ أَنتُمْ لَهَا وَارِدُونَ ﴿٩٨﴾

၉၈။ ဧကန်စင်စစ် အသင်တို့သည်လည်းကောင်း၊ အလ္လာဟ်အရှင်မြတ်မှတပါး အသင်တို့ ကိုးကွယ်ကြသည်များသည် လည်းကောင်း၊ ဂျဟန္နမ်ငရဲဘုံ၏ လောင်စာများပင် ဖြစ်ကြကုန်၏။ အသင်တို့အားလုံးပင် ယင်းဂျဟန္နမ်ငရဲဘုံတွင်းသို့ ဆိုက်ရောက်ရမည့်သူများသာ ဖြစ်ကြကုန်၏။

لَوْ كَانَ هَٰؤُلَاءِ آلِهَةً مَّا وَرَدُوهَا ۖ وَكُلٌّ فِيهَا خَالِدُونَ ﴿٩٩﴾

၉၉။ အကယ်၍သာ ဤသည်တို့သည် ကိုးကွယ်ရာများ ဖြစ်ကြပါလျှင် ယင်းဂျဟန္နမ် ငရဲဘုံတွင်းသို့ ဆိုက်ရောက်ကြမည်မဟုတ်ပေ။ သို့ရာတွင် (ယခုသော်ကား) ၎င်းတို့အားလုံးပင် ယင်းဂျဟန္နမ် ငရဲဘုံ၌ အမြဲထာဝရ နေထိုင်ကြရမည့်သူများ ဖြစ်ကြချေပြီ။

لَهُمْ فِيهَا زَفِيرٌ وَهُمْ فِيهَا لَا يَسْمَعُونَ ﴿١٠٠﴾

၁၀၀။ ၎င်းတို့၌ ယင်းဂျဟန္နမ်ငရဲဘုံတွင်း ညီးညည်ညည်းတွားခြင်းသာလျှင် ရှိပေမည်။ ထို့ပြင် ၎င်းတို့သည် ယင်းဂျဟန္နမ် ငရဲဘုံ၌ (မည်သည့်စကား၊ မည်သည့်အသံကိုမျှ) ကြားကြလိမ့်မည် မဟုတ်ပေ။

إِنَّ الَّذِينَ سَبَقَتْ لَهُم مِّنَّا الْحُسْنَىٰ أُولَٰئِكَ عَنْهَا مُبْعَدُونَ ١٠١

**၁၀၁။** ကေန်မလွဲ အကြင်သူတို့သည် ငါအရှင် မြတ်အထံတော်မှ မူလကပင် ထိုသူတို့အဖို့ ကောင်းကျိုးပြဋ္ဌာန်းပြီးဖြစ်၏။ ထိုသူတို့သည် ယင်းဂျဟန္နမ်ငရဲဘုံမှ ဝေးစေခြင်းကို ခံကြရမည့်သူများပင် ဖြစ်ကြပေမည်။

لَا يَسْمَعُونَ حَسِيسَهَا ۖ وَهُمْ فِي مَا اشْتَهَتْ أَنفُسُهُمْ خَالِدُونَ ١٠٢

**၁၀၂။** ၎င်းတို့သည် ယင်းဂျဟန္နမ်ငရဲဘုံ၏ လေသံကို သဲ့သဲ့မျှပင် ကြားကြရလိမ့်မည်မဟုတ်ပေ။ စင်စစ် ၎င်းတို့သည် မိမိတို့ စိတ်ကြိုက် စည်းစိမ်များတွင် ထာဝစဉ် မွေ့လျော်ခံစားသူများပင် ဖြစ်ကြပေမည်။

لَا يَحْزُنُهُمُ الْفَزَعُ الْأَكْبَرُ وَتَتَلَقَّاهُمُ الْمَلَائِكَةُ هَٰذَا يَوْمُكُمُ الَّذِي كُنتُمْ تُوعَدُونَ ١٠٣

**၁၀၃။** ၎င်းတို့အား ထိုအကြီးဆုံးသော ထိတ်လန့်ဖွယ်(ဖြစ်သော ကိယာမတ်နေ့)သည်ပင်လျှင် စိတ်ဒုက္ခရောက်စေမည်မဟုတ်။ ၎င်းပြင်(ထိုနေ့တွင်) မလာအီကဟ် ကောင်းကင်တမန်တော်များက ၎င်းတို့အား "ဤနေ့သည်ကား ချိန်းချက်ထားသောနေ့ ဖြစ်သည်" ဟူ၍ပင် ကြိုဆို ဧည့်ခံကြအံ့သတည်း။

يَوْمَ نَطْوِي السَّمَاءَ كَطَيِّ السِّجِلِّ لِلْكُتُبِ ۚ كَمَا بَدَأْنَا أَوَّلَ خَلْقٍ نُّعِيدُهُ ۚ وَعْدًا عَلَيْنَا ۚ إِنَّا كُنَّا فَاعِلِينَ ١٠٤

**၁၀၄။** (အို-နဗီတမန်တော်)အကြင်(နေ့၏အကြောင်းကိုလည်း ပြောကြားပါလေ။ထို) နေ့တွင် ငါအရှင်မြတ်သည်မိုးကောင်းကင်ကို ရေးသားထားသော မှတ်တမ်းစာရွက်ကို လိပ်ဘိသကဲ့သို့ပင် ခေါက်လိပ်တော်မူမည်။

ငါအရှင်မြတ်သည်အရာခပ်သိမ်းတို့ကို ပထမအကြိမ် စတင် ဖန်ဆင်းတော်မူဘိသကဲ့သို့ ထိုအရာကိုပင် ထပ်မံ၍ ပြုလုပ်(ဖန်ဆင်း)တော်မူပေမည်။ (ဤသည် ငါအရှင်မြတ်) မိမိအပေါ်၌ ကတိပြု(တာဝန်ယူ)တော်မူခြင်းပင် ဖြစ်ပေရာ ကေန်အမှန် ငါအရှင်မြတ်သည် (မိမိကတိတော်အတိုင်း) ပြုလုပ်တော်မူမည့် အရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

وَلَقَدْ كَتَبْنَا فِي الزَّبُورِ مِنْ بَعْدِ الذِّكْرِ أَنَّ الْأَرْضَ يَرِثُهَا عِبَادِيَ الصَّالِحُونَ ﴿١٠٥﴾

**၁၀၅။** မချွတ်မလွဲ ငါအရှင်မြတ်သည် "လောက်ဟ် မဟ်ဖူဇ်" သင်ပုန်း(၌ ရေးသားတော်မူပြီး)နောက် ကောင်းကင်ကျမ်းများတွင်(လည်း)ကေန်စင်စစ် မြေကို ငါအရှင်မြတ်၏ သူတော်စင် ကျွန်များပင် *အမွေဆက်ခံကြမည်ဟု ရေးသားတော်မူခဲ့ပြီး ဖြစ်ပေသတည်း။*[၁]

إِنَّ فِي هَٰذَا لَبَلَاغًا لِقَوْمٍ عَابِدِينَ ﴿١٠٦﴾

**၁၀၆။** မလွဲကေန် ဤ(ကုရ်အာန်ကျမ်းတော်)၌ ခဝပ်ကိုးကွယ်သူတို့ အဖို့ အမှန်ပင် (ရှင်းလင်းသော) အကြောင်းကြားချက်သည် ရှိပေသည်။[၂]

وَمَا أَرْسَلْنَاكَ إِلَّا رَحْمَةً لِلْعَالَمِينَ ﴿١٠٧﴾

**၁၀၇။** စင်စစ်သော်ကား(အို-နဗီတမန်တော်)ငါအရှင်မြတ်သည်အသင့်အား ကမ္ဘာ့ခပ်သိမ်းတို့အဖို့ *ကရုဏာတော်အဖြစ်နှင့်သာလျှင်စေလွှတ်တော်မူခဲ့ပေသည်။*[၃]

---

(၁) **အလ္လာဟ်အရှင်မြတ်၏ ကတိတော်။**

အလ္လာဟ်အရှင်မြတ်သည် ကတိတည်သော မုအ်မင်န် သူတော်စင်တို့အား ကတိပြုထားတော်မူသည်မှာ ထိုအရှင်မြတ်သည်၊ ယင်းမုအ်မင်န် သူတော်စင်တို့အား ဤပစ္စက္ခဘဝတွင် လည်းကောင်း၊ နောင်တမလွန်ဘဝတွင်လည်းကောင်း၊ အောင်မြင်မှုကို ချီးမြှင့်တော်မူမည်။ငင်းတို့အား ဤကမ္ဘာမြေကြီး၏ အမွေစားများအဖြစ်လည်းကောင်း၊ဂျန္နတ် အမတသုခဘုံ၏ အမွေစားများအဖြစ် လည်းကောင်း မြှောက်စားတော်မူမည်။ ဤသည့်သဘောကို ကုရ်အာန်ကျမ်းမြတ် (၇:၁၂၈။ ၂၄:၅၅။ ၄၀:၅၁) တွင်လည်း မိန့်ဆိုထားတော်မူသည်။

(၂) ဤအာယတ်တော်ကို အောက်ပါအတိုင်း အမျိုးမျိုး အနက်ဖွင့်ကြပေသည်။

(က) တစ်ဆူတည်းသော အလ္လာဟ်အရှင်မြတ်အား ဆည်းကပ်ကိုးကွယ်ကြသော မုအ်မင်န် သူတော်စင်များသည် ဤမည်သော ကောင်းချီးသတင်းကို ကြားနာပြီး မိမိတို့၏ လိုအင်ဆန္ဒအဝဝကို ရရှိနိုင်ကြပေသည်။

(ခ) ဤကုရ်အာန်ကျမ်းမြတ်တွင် ဤသို့မြင့်မြတ်လှသော တရားဓမ္မများ ကောင်းချီးသတင်းများ ပါရှိနေပေရာ ဤကုရ်အာန်ကျမ်းမြတ်သည် မုအ်မင်န်သူတော်စင်များအား ပြည့်ဝစုံလင် လုံလောက်သော အကျိုးနှင့် အောင်မြင်မှုကို ပေးမည်သာဖြစ်သည်။

(၃) **တမန်တော်မြတ်၏ ကရုဏာနှင့် စကြာဝဠာ။**

မဟာကရုဏာတော်ရှင် ဖြစ်တော်မူသော အလ္လာဟ်အရှင်မြတ်သည် တမန်တော်မြတ် မုဟမ္မဒ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)အား စကြာဝဠာအဝှန်းအဖို့ ကရုဏာတော်ရှင်အဖြစ်နှင့် စေလွှတ်တော်မူခဲ့လေသည်။ သို့စေလွှတ်တော် မူခဲ့သည့်အတိုင်း တမန်တော်မြတ်သည်လည်း အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်ဖြင့် စကြာဝဠာအဝှန်းအား ကရုဏာတရား ပွားများစေတော်မူခဲ့လေသည်။ တမန်တော်မြတ်၏ ➢➢

قُلْ إِنَّمَا يُوحَىٰٓ إِلَيَّ أَنَّمَآ إِلَٰهُكُمْ إِلَٰهٌ وَٰحِدٌ ۖ فَهَلْ أَنتُم مُّسْلِمُونَ ﴿١٠٨﴾

၁၀၈။ (အို-နဗီတမန်တော်)အသင်သည်(၎င်းတို့အား အချင်းတို့) တစ်ဆူတည်းသောကိုးကွယ်ရာအရှင်မြတ်သည်သာလျှင် အသင်တို့၏ ကိုးကွယ်ရာအရှင် ဖြစ်တော်မူကြောင်း ငါ့ထံသို့ "ဝဟ်ယ်" အမိန့်တော်ပေးပို့ခြင်းခံရသည်။ သို့ဖြစ်ပေရာ အသင်တို့သည် (အမိန့်တော်ကိုနာခံသူ) *မွတ်စ်လင်မ်များ ဖြစ်ကြမည်လောဟု ပြောဆို(မေးမြန်း)ပါလေ။* [၁]

>> ကရုဏာတရားသည် အတိတ်တွင် ပွားများလျက်ရှိသကဲ့သို့ ယခုလည်း ပွားများလျက်ရှိပေသည်။ နောင်အနာဂတ်တွင်လည်း "ကိယာမတ်" တိုင် ပွားများလျက်ပင် ရှိပေမည်။

တမန်တော်မြတ်၏ ကရုဏာတရားသည် စကြာဝဠာအဝှန်းအဖို့ ဖြစ်ပါလျက်၊ စကြာဝဠာအဝှန်းအား အကျိုးပြုနေပါလျက်၊ တစ်ဦးတစ်ယောက်သောသူသည် တမန်တော်မြတ်၏ ကရုဏာတော်မှ အကျိုးမခံစားပါသော် အကျိုးမခံစားသူ၏ အပြစ်သာဖြစ်ပေမည်။ နေသည် ကမ္ဘာ့အဝှန်းအား အလင်းရောင်ပေးသည်၊ အပူဓာတ်ပေးသည်။ ကမ္ဘာ့အဝှန်းရှိ သက်ရှိသက်မဲ့ အားလုံးတို့သည် အလင်းရောင်နှင့် အပူဓာတ်ကို နေမှ ခံစားလျက် ရှိကြသည်။ သို့ပါလျက် တစ်ဦးတစ်ယောက်သည် မိမိ၏အိမ်ကို အဘက်ဘက်မှ ပိတ်ထားသော်၊ ပိတ်ထားသူ၏ အပြစ်သာ ဖြစ်ပေမည်။ အလင်းရောင်နှင့် အပူဓာတ် မရရှိရန်အတွက် ယင်းသို့ အဘက်ဘက်မှ ပိတ်ထားသောသူ၏အိမ်ကိုပင် နေသည် အလင်းရောင်နှင့် အပူဓာတ်ပေးလျက် ရှိပေသည်။ ထို့အတူ တမန်တော်မြတ်၏ ကရုဏာတရားသည် မိမိအား လက်ခံသူကိုလည်းကောင်း၊ လက်မခံသူကိုလည်းကောင်း စကြာဝဠာအဝှန်းအား အကျိုးပြုလျက်ရှိပေသည်။

တမန်တော်မြတ်၏ ကရုဏာတရား၏ နယ်နိမိတ်ကား အတိုင်းအတာမရှိ၊ ကျယ်ဝန်းလှ၏။ တမန်တော်မြတ်၏ ကရုဏာတော်ကို မခိုလှုံလိုသူ တစ်ဦးသည်ပင်လျှင် တစ်နည်းတစ်ဖုံ တမန်တော်မြတ်၏ ကရုဏာတော်ကို ခံစားလျက်ရှိပေသည်။ ယနေ့ကမ္ဘာတွင် တမန်တော်မြတ်၏ ဒေသနာတော်များသည် ပြန့်ပွားထွန်းကားလျက် ရှိပေသည်။ လူ့အဆောက်အအုံကြီး တစ်ခုလုံးကို အဘက်ဘက်မှ အကျိုးပြုလျက်ရှိပေရာ မွတ်စ်လင်မ်၊ ကာဖိရ်မရွေး အားလုံးတို့သည် မိမိတို့၏ အရည်အချင်းနှင့်အမျှ တမန်တော်မြတ်၏ ကရုဏာတော်ကို ခံစားလျက်ရှိကြပေသည်။ ထို့ပြင်တစ်ဝ၊ အလ္လာဟ်အရှင်မြတ်သည် အတိတ်ခေတ် အုပ်စုများနှင့်မတူ၊ တစ်မူထူးခြားစွာဖြင့် တမန်တော်မြတ်၏နောက်လိုက်တပည့်သား မုအ်မင်န်များကို မဆိုထားဘိ။ ကာဖိရ်များကိုပင် (ဤပစ္စက္ခတွင်) လုံးဝ ချေမှုန်းဖျက်ဆီးပစ်သော ဒဏ်ခတ်ခြင်းမျိုးမှ ဖယ်ရှားထားတော်မူမည်ဟူ၍ ကတိပြုထားတော်မူလေသည်။ ဤကား တမန်တော်မြတ်၏ကျေးဇူးပင်။ ကုရ်အာန်ကျမ်းလာ အာယတ်တော်(၂၁:၁၀၇)နှင့် စပ်လျဉ်း၍ သာဝကကြီး အိဗ်နုအာဗ္ဗားစ်က ဖွင့်ဆိုပြောကြားခဲ့သည်မှာ-

"တမန်တော်မြတ်အား ယုံကြည်သူအဖို့မှာကား ကရုဏာသည် နှစ်ဘဝစလုံးတွင် ပြည့်စုံသွားချေပြီ။ တမန်တော်မြတ်အား မယုံကြည်သူသည်ပင် (ဤပစ္စက္ခ၌) အတိတ်ခေတ် အုပ်စုများခံစားခဲ့ကြရသည့် ပြစ်ဒဏ်များမှ လွတ်ငြိမ်းခွင့် ရရှိသွားလေပြီ"။ အိဗ်နုဂျရီရ် အ-၁၇။ စ-၈၇။

(၁) တမန်တော်မြတ်သည် ကရုဏာရှင်အဖြစ်နှင့် ပွင့်လာတော်မူပြီး စကြာဝဠာအဝှန်းအား ကရုဏာတရား ဟောကြားသွားတော်မူခဲ့လေသည်။ ယင်းသည့် ကရုဏာတရား၏ အချုပ်မှာ ပွင့်လေသမျှသော >>

**၁၀၉။** သို့ပါလျက်အကယ်၍၎င်းတို့သည် မျက်နှာလွှဲ ငြင်းဆန်ခဲ့ကြပါလျှင်အသင်သည် (၎င်းတို့အား အချင်းတို့) ငါသည် အသင်တို့အား တိလင်းထင်ရှားစွာ အသိပေး(ကြေညာ)ခဲ့ပြီးဖြစ်သည်။ အသင်တို့ ချိန်းချက် ခြင်းခံကြရသော ကိစ္စသည် နီးသည် ဝေးသည်ကိုမူ ငါမသိဟု ပြောကြားပါလေ။ [၁]

فَإِن تَوَلَّوْا فَقُلْ ءَاذَنتُكُمْ عَلَىٰ سَوَآءٍ وَإِنْ أَدْرِىٓ أَقَرِيبٌ أَم بَعِيدٌ مَّا تُوعَدُونَ ﴿١٠٩﴾

**၁၁၀။** ဧကန်မလွဲ ထိုအရှင်မြတ်သည် (အသင်တို့၏) ထင်ရှားစွာ ပြောဆိုချက်ကိုလည်း သိရှိတော်မူ၏။ ထိုနည်းတူစွာ ထိုအရှင်မြတ်သည် အသင်တို့ လျှို့ဝှက်ထားကြသည်ကိုလည်း သိရှိတော်မူပေသည်။

إِنَّهُۥ يَعْلَمُ ٱلْجَهْرَ مِنَ ٱلْقَوْلِ وَيَعْلَمُ مَا تَكْتُمُونَ ﴿١١٠﴾

**၁၁၁။** ထို့ပြင် ယင်းချိန်းချက်မှု (ကို ဆောလျင်စွာ ပြုတော်မမူဘဲဆိုင်းငံ့၍ထားတော်မူခြင်း)သည် အသင်တို့အား စမ်းသပ်ခြင်း ဖြစ်တန်ရာသည်။ သတ်မှတ်ထားသော အချိန်ကာလတိုင်အောင် အကျိုးကျေးဇူးခံစားခွင့် ပေးထားခြင်းလည်း ဖြစ်တန်ရာသည်။ ငါသည် အတိအကျမသိပေ။

وَإِنْ أَدْرِى لَعَلَّهُۥ فِتْنَةٌ لَّكُمْ وَمَتَٰعٌ إِلَىٰ حِينٍ ﴿١١١﴾

---

➤➤ တမန်တော်များ အသီးသီး ဟောကြားသွားခဲ့ကြကုန်သော 'တောင်ဟီဒ်'ပင် ဖြစ်သည်။ တောင်ဟီဒ်တရားကား ရှင်းလင်းလှ၏။ အသိပညာ၊ စာပေကျမ်းဂန် နှစ်လီသော အထောက်အထားနှင့် ပြည့်စုံလှ၏။ လက်မလွှတ်တန်း လက်ခံနာယူသင့်လှ၏။ အကြင်သူသည် တောင်ဟီဒ်ကို နာယူအံ့၊ ထိုသူသည် နှစ်ဘဝစလုံးတွင် ကောင်းစားအံ့။ အကြင်သူသည် တောင်ဟီဒ်ကို ငြင်းပယ်အံ့။ ထိုသူသည် နှစ်ဘဝစလုံးတွင် ပျက်စီးအံ့။

(၁) ဆိုလိုသည်ကား တမန်တော်မြတ်က ကျွန်ုပ်သည် အမိန့်တော်အရ မိမိ၌ တာဝန်ရှိသည်နှင့်အညီ ဟောကြားအပ်သည်တို့ကို အတိအကျ ပွင့်လင်းစွာ ဟောကြားပြီးပြီ။ မိမိသည် တာဝန်ကျေပွန်ပြီး မိမိ၌ တာဝန်မရှိပြီ။ နာယူခြင်း၊ မနာယူခြင်းသည် အသင်တို့၏ အရေးသာဖြစ်သည်။ မနာယူကြပါက ပြစ်ဒဏ်သည် မုချ သက်ရောက်မည်သာဖြစ်သည်။ ထိုသည့် ပြစ်ဒဏ်သည် နီးသည်၊ ဝေးသည်၊ မြန်မည်၊ နှေးမည်ကို ကျွန်ုပ် မသိ။ အလ္လာဟ်အရှင်မြတ်သာလျှင် သိတော်မူသည်။ ပြစ်ဒဏ်တော် သက်ရောက်ရာတွင် အနည်းငယ် ကြန့်ကြာခြင်းမှာ အသင်တို့အား စမ်းသပ်တော်မူရန်နှင့် သတ်မှတ်ထားတော်မူသည့် အချိန်အထိ အကျိုးပြုထားတော်မူရန် ဖြစ်ပေမည်။ သို့ဖြစ်ရာ အချိန်မီ နောင်တတရားရကြကုန်ဟု ဟောကြားတော်မူခဲ့လေသည်။

قُلَ رَبِّ احْكُمْ بِالْحَقِّ ۗ وَرَبُّنَا الرَّحْمٰنُ الْمُسْتَعَانُ عَلٰى مَا تَصِفُوْنَ ﴿١١٢﴾

၁၁၂။ (နဗီတမန်တော်မြတ်သည် ဤသို့)လျှောက်ထားပန်ကြားခဲ့လေသည်။ အို-ကျွန်တော်မျိုးအား ဖန်ဆင်း မွေးမြူတော်မူသောအရှင်မြတ် အရှင်မြတ်သည် *မှန်ကန်စွာ စီရင်ဆုံးဖြတ်၍ ပေးသနားတော်မူပါ၊*[၁] စင်စစ် ငါတို့အားဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်သည် "ရဟ်မာန်" အနန္တကရုဏာတော်ရှင် ဖြစ်တော်မူပေသည်။ ထိုအရှင်မြတ်သည် အသင်တို့ ထုတ်ဖော် ပြောဆိုကြကုန်သော အကြောင်းအရာများနှင့် စပ်လျဉ်း၍ အကူအညီတောင်းခြင်းကို ခံရတော်မူသော အရှင်လည်း ဖြစ်တော်မူပေသတည်း။

---

(၁) **တမန်တော်များ၏ နောက်ဆုံးဆုတောင်းပတ္ထနာ။**

တမန်တော်များသည် မိမိတို့၏မှန်ကန်မှုနှင့် အလ္လာဟ်အရှင်မြတ်၏ တရားမျှတသော စီရင်ဆုံးဖြတ်မှုကို လေးလေးနက်နက် နှစ်နှစ်ကာကာ ယုံကြည်ကြကုန်သည်။ အရေးကိစ္စအဝဝတွင် ထိုအရှင်မြတ်အားသာလျှင် ယုံပုံမှီခိုအားထားကြကုန်သည်။ မိမိတို့၌ တာဝန်ရှိသည်နှင့်အညီ ဟောကြားအပ်သည်တို့ကို စ-လယ်-ဆုံး ဟောကြားကြကုန်သည်။ သို့ဟောကြသော်လည်း အချို့ လူယုတ်မာများသည် တမန်တော်များ၏ တရားကို မနာယူကြသည်သာမက တမန်တော်များနှင့်တကွ တမန်တော်များ၏ တရားနာယူကြသော နောက်လိုက်တပည့်သားတို့အား ခြိမ်းခြောက်လာကြသည်။ ထိုအခါမျိုးတွင် တမန်တော်များသည် အလ္လာဟ်အရှင်မြတ် ထံတော်၌ မိမိတို့နှင့် ဤသူယုတ်တို့၏ စပ်ကြားတွင် အမှန်နှင့်အမှား လုံးဝကွဲပြားခြားနား ထင်ရှားသွားရန်အလို့ငှာ တရားသဖြင့် အဆုံးအဖြတ် ပေးတော်မူပါမည့်အကြောင်း ဆုပန်ကြားလေ့ရှိခဲ့ကြသည်။ ကြည့်-ကုရ်အာန် (၇း၈၉)။ ဤအာယတ်တော်တွင် တမန်တော်မြတ်သည်လည်း ဤအတိုင်းပင် ဆုပန်ကြားတော် မူခဲ့လေသတည်း။

# ဟဂ်ျပြုခြင်းကဏ္ဍ

سُورَةُ الْحَجِّ

ဤကဏ္ဍသည် 'ဟဂ်ျ' အကြောင်း ပါဝင်သော ကဏ္ဍဖြစ်သည်။
ဤကဏ္ဍသည် မဒီနာမြို့တော်၌ ထုတ်ပြန်ချမှတ်တော်မူသော ကဏ္ဍ ဖြစ်သည်။
ဤကဏ္ဍတွင် အာယတ်တော်(၇၈)ပါး၊ ရကူအ်အပိုဒ် (၁၀)ပိုဒ်ပါရှိ၏။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ ۝

မပြတ်မစဲ သနားကြင်နာ ညှာတာတော်မူသော၊ အနန္တ ဂရုဏာတော်ရှင်ဖြစ်တော်မူသော အလ္လာဟ်အရှင်မြတ်၏နာမံတော်ဖြင့် အစပြုပါ၏။

يٰٓاَيُّهَا النَّاسُ اتَّقُوْا رَبَّكُمْ ۚ اِنَّ زَلْزَلَةَ السَّاعَةِ شَيْءٌ عَظِيْمٌ ۝١

၁။ အို...လူခပ်သိမ်းတို့၊ အသင်တို့သည် မိမိတို့ကို ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်အား ကြောက်ရွံ့ရှိသေကြလေကုန်။ ဧကန်စင်စစ် *ကိယာမတ်၏ မြေငလျင်လှုပ်ခြင်းသည်* [၁] အကြီးအကျယ် ကြောက်မက်ဖွယ် ကိစ္စတစ်ရပ်ပင် ဖြစ်ချေသည်။

يَوْمَ تَرَوْنَهَا تَذْهَلُ كُلُّ مُرْضِعَةٍ عَمَّآ اَرْضَعَتْ وَتَضَعُ كُلُّ ذَاتِ حَمْلٍ حَمْلَهَا وَتَرَى النَّاسَ سُكٰرٰى وَمَا هُمْ بِسُكٰرٰى وَلٰكِنَّ عَذَابَ اللّٰهِ شَدِيْدٌ ۝٢

၂။ ယင်းမြေငလျင်လှုပ်ခြင်းကို အသင်တို့တွေ့မြင်ကြသောနေ့တွင် နို့တိုက်သော မိခင်တိုင်းသည် မိမိနို့တိုက်လျက်ရှိသော ကလေးကို (လုံး၀) မေ့လျော့၍ သွားပေမည်။ ၎င်းပြင် သန္ဓေရှိသူတိုင်းသည်လည်း (ကြောက်ရွံ့ထိတ်လန့်ကာ) မိမိ၌ရှိသော သန္ဓေလျှောကျပေမည်။ ထိုမှတပါးအသင်သည်လူတို့အား မူးယစ်တွေဝေ မိန်းမောနေသူများအဖြစ် တွေ့မြင်ပေမည်။ စင်စစ်၎င်းတို့သည် မူးယစ်တွေဝေမိန်းမောနေသူများ (အလျင်း)မဟုတ် သို့ရာတွင် အလ္လာဟ်အရှင်မြတ်၏ ပြစ်ဒဏ်ကား ပြင်းထန်လှပေသတည်း။

---

(၁) **ကိယာမတ်နှင့် မြေငလျင်။**

ကိယာမတ်၏ မြေငလျင်လှုပ်ခြင်းသည် နှစ်ကြိမ်ရှိသည်။

(၁) ကိယာမတ်ဖြစ်သည့် အချိန်တွင် သို့မဟုတ် ဒုတိယအကြိမ် တံပိုးမှုတ်ပြီးနောက်တွင် လှုပ်မည့်မြေငလျင်။

➢➢

وَمِنَ النَّاسِ مَنْ يُّجَادِلُ فِى اللّٰهِ بِغَيْرِ عِلْمٍ وَّيَتَّبِعُ كُلَّ شَيْطٰنٍ مَّرِيْدٍ ۝٣

၃။ စင်စစ် လူတို့အနက် အကြင်သို့သောသူလည်း ရှိ၏။ ထိုသူသည် အသိပညာမရှိဘဲလျက် အလ္လာဟ် အရှင်မြတ်နှင့်ပတ်သက်၍ အငြင်းအခုံပြုသည်။ ၁ ၎င်းပြင် ထိုသူသည် ဆိုးသွမ်းပုန်ကန်သော "ရှိုင်တွာန်" မိစ္ဆာကောင် အသီးသီး၏ နောက်သို့လိုက်သည်။

---

➤➤ (၂) ကိယာမတ် မဖြစ်မီ ကိယာမတ်၏ ရှေ့ပြေး နိမိတ်လက္ခဏာတစ်ရပ်အဖြစ် လှုပ်မည့်မြေငလျင်။

ဤအာယတ်တော်တွင် လာရှိသည့် မြေငလျင်သည် အထက်ဖော်ပြပါ မြေငလျင်နှစ်ကြိမ်အနက် မည်သည့်အကြိမ်ကို ရည်ညွှန်းပါသနည်း။ အကယ်၍ ဤအာယတ်တော်လာ မြေငလျင်သည် ဒုတိယအကြိမ်(ဝါ) ကိယာမတ်မဖြစ်မီ ကိယာမတ်၏ ရှေ့ပြေး နိမိတ်လက္ခဏာအဖြစ် လှုပ်ရှားမည့် မြေငလျင်ကို ရည်ညွှန်းသည် ဆိုပါက ဤအာယတ်တော်သည် 'မုချ' ဖြစ်မည်။ (ဝါ) မိမိ၏ ပေါ်လွင်ထင်ရှားသည့် အနက်၌ပင်ဖြစ်မည်။ အကယ်၍ ဤအာယတ်တော်သည် အထက်ဖော်ပြပါ မြေငလျင် နှစ်ကြိမ်အနက် ပထမအကြိမ် (ဝါ) ကိယာမတ် ဖြစ်သည့်အချိန်တွင် လှုပ်ရှားမည့် မြေငလျင်ကို ရည်ညွှန်းသည်ဆိုပါက ဤအာယတ်တော်၏ အနက်သဘောမှာ နှစ်မျိုးဖြစ်နိုင်ပေသည်။

(က) ဤအာယတ်တော်သည် 'မုချ' လည်း ဖြစ်နိုင်သည်။ (ဝါ) မိမိ၏ ပေါ်လွင်ထင်ရှားသည့် အနက်၌ပင်ဖြစ်မည်။ ကိယာမတ်နေ့တွင် သားသည်မိခင်များသည် သားငယ်အား နို့တိုက်ကျွေးလျက် ရှင်ပြန်ထကြရမည်၊ ကိုယ်ဝန်ဆောင် အမျိုးသမီးများသည် ကိုယ်ဝန်ဆောင်လျက် ရှင်ပြန်ထကြမည်။ မြေငလျင် လှုပ်သည့်အခါ မြေငလျင်၏ ပြင်းထန်မှုကြောင့် အကြောက်ကြီး ကြောက်ကာ နို့တိုက်ကျွေးလျက်ရှိသော သားသည်မိခင်များသည် မိမိတို့၏ ရင်သွေးများကိုပင် မေ့လျော့သွားကြပေမည်။ ကိုယ်ဝန်ဆောင်လျက်ရှိသော အမျိုးသမီးများသည် အချိန်မစေ့မီပင် ကိုယ်ဝန် ပျက်ကျသွားကြပေမည်။

(ခ) ဤအာယတ်တော်သည် ဥပစာလည်း ဖြစ်နိုင်ပေသည်။(ဝါ) ကိယာမတ်၏ မြေငလျင်ဟူသည် ကိယာမတ်နေ့၏ ကြောက်မက်ဖွယ်ရာ အဖြစ်အပျက်များကို ဆိုလိုသည်။ ဆိုလိုသည်ကား ကိယာမတ်နေ့၏ အဖြစ်အပျက်များကား အဘယ်မျှ ထိတ်လန့်ကြောက်မက်ဖွယ် ဖြစ်မည်ဆိုသော် အကယ်၍များ ထိုနေ့တွင် နို့တိုက်ကျွေးလျက်ရှိသော သားသည် မိခင်များနှင့် ကိုယ်ဝန်ဆောင် အမျိုးသမီးများ ရှိနေကြပါက ကိယာမတ်၏ ကြောက်မက်ဖွယ်ရာ အဖြစ်အပျက်များကို တွေ့မြင်ပြီး အကြောက်ကြီးကြောက်၊ အထိတ်ကြီး ထိတ်ကာ မိခင်များသည် မိမိတို့၏ ရင်သွေးများကိုပင် မေ့လျော့သွားကြပေမည်။ ကိုယ်ဝန်ဆောင် အမျိုးသမီးများသည်လည်း အချိန်မစေ့မီ ကိုယ်ဝန်များ ပျက်ကျကြပေမည်ဟူ၏။

(၁) **ရှင်ပြန်ထရမည့်အရေးနှင့် စပ်လျဉ်း၍ ငြင်းခုံသူများ၊**

အချို့သောသူများသည် အလ္လာဟ်အရှင်မြတ်နှင့် ပတ်သက်၍သော်လည်းကောင်း၊ ထိုအရှင်မြတ်၏ တန်ခိုးတော်၊ ဂုဏ်တော်များနှင့် စပ်လျဉ်း၍သော်လည်းကောင်း၊ ထိုအရှင်မြတ်၏ ပြုစီရင်မှုများနှင့် စပ်လျဉ်း၍သော် လည်းကောင်း၊ ထိုအရှင်မြတ်၏ဒေသနာတော်၊ အမိန့်တော်များနှင့် စပ်လျဉ်း၍သော်လည်းကောင်း၊ အသိပညာ၊ အမြော်အမြင် အဆင်ခြင် အထောက်အထား တစ်စုံတစ်ရာမရှိဘဲလျက် ငြင်းခုံကြသည်။ စောဒနာဝင်ကြသည်။ သူတစ်ပါးတို့အား ထင်ယောင်ထင်မှား ဖြစ်စေကြသည်။ ထိုသို့သောသူများသည် ကိယာမတ်၊ ➤➤

كُتِبَ عَلَيْهِ أَنَّهُ مَنْ تَوَلَّاهُ فَأَنَّهُ يُضِلُّهُ وَيَهْدِيهِ إِلَىٰ عَذَابِ السَّعِيرِ ④

၄။ (အမှန်သော်ကား) ထို"ရှိုင်တွာန်" မိစ္ဆာကောင်နှင့်ပတ်သက်၍ စီရင်ပြဋ္ဌာန်းပြီးဖြစ်သည်မှာ မည်သူမဆို ယင်း"ရှိုင်တွာန်" မိစ္ဆာကောင်အား အဆွေခင်ပွန်းပြုလုပ်ခဲ့မူ ယင်း"ရှိုင်တွာန်"မိစ္ဆာကောင်သည်ထိုသူအားလမ်းမှားစေခြင်းကိုလည်းကောင်း၊ ထိုသူအားအလျှံပြောင်ပြောင် တောက်လောင်သောငရဲမီး၏ ပြစ်ဒဏ်သို့လမ်းညွှန်ခြင်းကိုလည်းကောင်း၊ ဧကန်မလွဲ ပြုလုပ်မည်ဖြစ်သည်ဟု စီရင်ပြဋ္ဌာန်းပြီး ဖြစ်ချေသတည်း။

يَا أَيُّهَا النَّاسُ إِنْ كُنْتُمْ فِي رَيْبٍ مِنَ الْبَعْثِ فَإِنَّا خَلَقْنَاكُمْ مِنْ تُرَابٍ ثُمَّ مِنْ نُطْفَةٍ ثُمَّ مِنْ عَلَقَةٍ ثُمَّ مِنْ مُضْغَةٍ مُخَلَّقَةٍ وَغَيْرِ مُخَلَّقَةٍ لِنُبَيِّنَ لَكُمْ

၅။ အို-လူခပ်သိမ်းတို့၊ အကယ်၍အသင်တို့သည် ရှင်ပြန်ထခြင်းနှင့်စပ်လျဉ်း၍ ဒွိဟသံသယ ဖြစ်နေကြပါလျှင် (အသင်တို့သည် မိမိတို့နှင့် မိမိတို့၏ ပတ်ဝန်းကျင်ကို လေးနက်စွာ စဉ်းစား၍ ကြည့်ကြလေကုန်)။ ဧကန်အမှန် ငါအရှင်မြတ်သည် အသင်တို့ရှေ့ဝယ် (မိမိတန်ခိုးတော်ကို) ထင်ရှားစေခြင်းငှာ အသင်တို့အား (ပထမသော်)မြေကြီးဖြင့်လည်းကောင်း၊ ထို့နောက် သုတ်ရည်ဖြင့်လည်းကောင်း၊ ထို့နောက် သွေးခဲဖြင့်လည်းကောင်း၊ ထို့နောက်အင်္ဂါစုံလင် ပုံကျသော အသားတုံးဖြင့်လည်းကောင်း၊ အင်္ဂါမစုံ ပုံမကျသော အသားတုံးဖြင့်လည်းကောင်း၊ (အဆင့်ဆင့်) ဖန်ဆင်းတော်မူခဲ့၏။

➤➤ ရှင်ပြန်ထကြရမည့်အရေး၊ ကျိုးပြစ်ခံစံကြရမည့်အရေးများကို ငြင်းခုံပြောဆိုကြသည်။ "လူတစ်ဦးသည် သေ၍ အရိုးများ ဆွေးမြည့်ကာ အပိုင်းပိုင်းအစစ ပျံ့လွင့်ပျောက်ကွယ်သွားပြီးနောက် အသို့လျှင် ရှင်ပြန်ထနိုင်အံ့နည်း။ အသို့လျှင် မိမိ၏မူလဘဝသို့ ပြန်လည်ရောက်ရှိနိုင်အံ့နည်း"ဟု စောဒနာဝင်ကြသည်။ ထိုသို့သော အမြော်အမြင်အဆင်ခြင် ကင်းမဲ့သောသူများအား ရှိုင်တွာန်သည် အထူးဖြားယောင်းနေရန်ပင် မလိုပေ။အဘယ်ကြောင့်ဆိုသော် ထိုသို့သောသူများသည် ရှိုင်တွာန်၏ ကျော့ကွင်းထဲသို့ မိမိတို့ အလိုအလျောက်ပင် အလွယ်တကူ ဆင်းကြပေသည်။ ရှိုင်တွာန်၏ဖိတ်ခေါ်ချက်ကို လက်ခံရန် အမြဲတစေ အသင့်ရှိနေကြပေသည်။ ရှိုင်တွာန်ကား မိမိနှင့် အဆွေခင်ပွန်းဖွဲ့သူတို့အား လမ်းမှားစေပြီး ငရဲသို့အရောက် ပို့ဆောင်သည်သာတည်း။ ဤသည်ကို အဆင်ခြင်ကင်းမဲ့သော ယင်းသူမိုက်တို့သည် မသိကြလေသလော။ ယင်းသို့ ရှင်ပြန်ထကြရမည့်အရေးနှင့် စပ်လျဉ်း၍ ဒွိဟဖြစ်နေသူတို့အား ရည်ညွှန်း၍ ရှေ့လာလတ္တံ့ သောအာယတ်တော်များတွင် မိန့်ဆိုထားတော်မူသည်။

وَنُقِرُّ فِى الْأَرْحَامِ مَا نَشَآءُ إِلَىٰٓ أَجَلٍ مُّسَمًّى ثُمَّ نُخْرِجُكُمْ طِفْلًا ثُمَّ لِتَبْلُغُوٓا أَشُدَّكُمْ ۖ وَمِنكُم مَّن يُتَوَفَّىٰ وَمِنكُم مَّن يُرَدُّ إِلَىٰٓ أَرْذَلِ الْعُمُرِ لِكَيْلَا يَعْلَمَ مِنۢ بَعْدِ عِلْمٍ شَيْـًٔا ۚ وَتَرَى الْأَرْضَ هَامِدَةً فَإِذَآ أَنزَلْنَا عَلَيْهَا الْمَآءَ اهْتَزَّتْ وَرَبَتْ وَأَنۢبَتَتْ مِن كُلِّ زَوْجٍۭ بَهِيجٍ ⑤

ၚင်းပြင် ငါအရှင်မြတ်သည် သားအိမ်များတွင် မိမိအလိုရှိတော်မူသည်ကို (သုတ်ရည်ကို) သတ်မှတ်ပိုင်းခြားအပ်သော အချိန်ကာလတိုင်အောင် တည်စေတော်မူပြီးနောက် အသင်တို့အား (အမိဝမ်းတွင်းမှ အပြင်သို့ နို့စို့အရွယ်)ကလေးသူငယ်အဖြစ် ထွက်စေတော်မူ၏။ ထို့နောက် အသင်တို့သည် မိမိတို့၏ လူလားမြောက်သောအရွယ်သို့ ရောက်ရှိနိုင်ကြရန် (ငါအရှင်မြတ်သည် မွေးမြူတော်မူပြန်၏။) ၎င်းပြင် အသင်တို့အနက် (အရွယ်မရောက် လူလားမမြောက်မီပင်) အသက်သေဆုံးရသူလည်းရှိ၏။ ထိုနည်းတူစွာ အသင်တို့တွင် အယုတ်ညံ့ဆုံးသော အသက်အရွယ်သို့ ပြန်ရောက်ရသောသူလည်းရှိ၏။ ထို့ကြောင့် ၎င်းသည် (အရာရာကို) သိရှိပြီး နောက်သော်မှပင် မည်သည့် တစ်စုံတစ်ရာကိုမျှ မသိနိုင်တော့ချေ။

ထိုမှတပါး အသင်သည် ပထဝီမြေကို သွေ့ခြောက်လျက် တွေ့မြင်လေသည်။ တစ်ဖန် ငါအရှင်မြတ်သည် ယင်းပထဝီမြေပေါ်ဝယ် (မိုး)ရေကို (ရွာသွန်း၍) ကျစေတော်မူသောအခါ ယင်းမြေ(မှ သစ်ပင်ဝါးပင်များ) ပေါက်ရောက် လှုပ်ရှားလာလေသည်။ ထို့ပြင် တိုးတက်မြင့်မားလာလေသည်။ ထို့ပြင် အထူးနှစ်မြို့ဖွယ်ဖြစ်သော (သစ်သီးသစ်ဥ ကောက်ပဲသီးနှံ) အမျိုးအစား အသီးသီးတို့ကို ပေါက်ရောက်စေလေသည်။ ၁

(၁) လူသားသည်မိမိ၏ဘဝဖြစ်စဉ်နှင့် မြေထွက်သီးနှံများကို ဆင်ခြင်ပါက ရှင်ပြန်ထရမည့်အရေးကို အလွယ်တကူ သဘောပေါက်လာပေမည်။ သေပြီးနောက် ရှင်ပြန်ထရမည့်အရေးနှင့် စပ်လျဉ်း၍ ဒွိဟသံသယဖြစ်နေသူများအား မိမိတို့၏ ဘဝဖြစ်စဉ်နှင့် မြေသေမှပေါက်ပွားလာသော သီးနှံတို့၏ဖြစ်စဉ်ကို စဉ်းစားဆင်ခြင်တွေးခေါ် မြော်မြင်ကြည့်ရန် ဤအာယတ်တော်များတွင် ညွှန်ပြမိန့်ဆိုထားတော်မူသည်။ ➤➤

➤➤ **လူဖြစ်စဉ်။**

အလ္လာဟ်အရှင်မြတ်သည် လူသားတို့၏ မူလအစ ကမ္ဘာဦးဖခင်ကြီး အာဒမ်အား မြေဖြင့် ဖန်ဆင်းတော်မူခဲ့သည်။ ထို့နောက်လူသားတို့အား ကလလရေကြည် တစ်စက်ဖြင့် ဖန်ဆင်းတော်မူခဲ့သည်။ ဆိုလိုသည်ကား ထိုအရှင်မြတ်သည် မြေမှ လူသားတို့အဖို့ အစာအာဟာရများကို ပေါက်ရောက်စေတော်မူသည်။ လူသားတို့က ထိုသည့် အစာအာဟာရများကို စားသုံးကြသည်။ ထို့သည့် အစာအာဟာရများအနက် အချို့သည် အဆင့်ဆင့် ပြောင်းလဲတိုးတက်လာပြီး သုတ်ရည်ဖြစ်လာသည်။ သုတ်ရည်သည်လည်း အဆင့်ဆင့် ပြောင်းလဲ တိုးတက်လာပြီး နောက်ဆုံးတွင် လူသားဖြစ်လာလေသည်။ ရှင်းပြဦးအံ့။

လူသားတို့ မှီဝဲစားသုံးသော မြေထွက် အာဟာရများသည် အဆင့်ဆင့် ပြောင်းလဲတိုးတက်လာပြီး သွေးဖြစ်လာသည်။ ထိုမှတစ်ဆင့် သုတ်ရည်ဖြစ်လာသည်။ ထိုမှတစ်ဆင့် သွေးခဲဖြစ်လာသည်။ ထိုမှတစ်ဆင့် အသားတုံးဖြစ်လာသည်။ ထိုမှတစ်ဆင့် အချို့အသားတုံးမှာ လူအင်္ဂါများပြည့်စုံစွာ ဖြစ်ပေါ်လာပြီး လူသားပြကတေ့ ဖြစ်လာလေသည်။ အချို့မှာ လူအင်္ဂါများ ပြည့်စုံစွာ ဖြစ်ပေါ်မလာဘဲ လျှောကျပျက်စီးသွားလေသည်။ သို့တည်းမဟုတ် အချို့အသားတုံးမှာ အင်္ဂါပြည့်စုံသော လူသားဖြစ်လာလေသည်။ အချို့မှာ အင်္ဂါချို့တဲ့သော လူသားဖြစ်လာလေသည်။

လူသားသည် မြေထွက်အစာ အာဟာရအဖြစ်မှ လူသားဖြစ်လာသည်အထိ မည်သို့မည်ပုံ အဆင့်ဆင့် ပြောင်းလဲတိုးတက်လာခဲ့သည်။ (အဘ၏ ကျောက်ကုန်းကို မည်သို့မည်ပုံ ရောက်ရှိလာခဲ့သည်၊ အဘ၏ ကျောက်ကုန်းမှ အမိဝမ်းဗိုက်သို့ မည်သို့မည်ပုံ ရောက်ရှိလာခဲ့သည်။ အမိ ဝမ်းဗိုက်၌ မည်သို့မည်ပုံ နေထိုင်ခဲ့သည်) အချိန်မည်မျှ ကြာခဲ့သည်၊ မည်သည့်မည်ပုံ အဆင့်ဆင့် ပြောင်းလဲ တိုးတက်လာခဲ့သည်။ နောက်ဆုံးတွင် မည်သို့မည်ပုံ အမိဝမ်းဗိုက်မှ အံ့ဖွယ်သရဲ လူသားကလေးအဖြစ်နှင့် သန့်စင် ဖွားမြင်လာခဲ့သည်များကို စဉ်းစားဆင်ခြင် တွေးခေါ်မြော်မြင်ပါက အလ္လာဟ်အရှင်မြတ်၏ တန်ခိုးတော်အနန္တနှင့်၊ သေပြီးနောက် ရှင်ပြန် ထရမည့်အရေးကို လွယ်ကူစွာ သဘောပေါက် ယုံကြည်လက်ခံလာပေမည်။

လူသားသည် သုတ်ရည်တစ်စက်မှ လူသားကလေးအဖြစ် သန့်စင်ဖွားမြင်လာသည်အထိ အမိဝမ်းဗိုက် အတွင်း၌ အဆင့်ဆင့် ပြောင်းလဲတိုးတက် ကြီးထွားလာသကဲ့သို့ ဖွားမြင်ပြီးသည့် နောက်ပိုင်းတွင်လည်း တဖြည်းဖြည်း ဘဝအဆင့်ဆင့်ကို ကူးပြောင်းကျော်လွန်ရပေသည်။ လူသားသည် အမိဝမ်းဗိုက်မှ သန့်စင်ဖွားမြင် လာသည့်အခါ နို့စို့အရွယ် လူမမယ်ကလေးလေးပင် ဖြစ်ပေသည်။ အားအင်နနယ် သေးငယ်လှပေသည်။ ထိုမှတစ်ဆင့် ပြေးလွှားနိုင်သည့် လူငယ်ဘဝသို့ ရောက်ရှိလာပေသည်။ ထိုမှတစ်ဆင့် ပျိုရွယ်သန်စွမ်းလာပြီး လူတစ်လုံး သူတစ်လုံး ဖြစ်လာလေသည်။ အချို့မှာ ငယ်ရွယ်စဉ်မှာပင် သေဆုံးသွားကြလေသည်။ အချို့မှာ လုံးဝအိုမင်းရင့်ယော်ကာ အားအင်ပြန်လည်ဆုတ်ယုတ် ချည့်နဲ့သွားကြလေသည်။ သူငယ်ပြန်သည်အထိ အသက်နှင့် နေကြရလေသည်။ ဤသည် လူ့ဘဝဖြစ်စဉ် အကျဉ်းတည်း။

ဤသည့် ဖြစ်စဉ်ဖြစ်ရပ်များကိုပင် လူသားတို့သည် စဉ်းစားဆင်ခြင် တွေးမြင်ပါက အလ္လာဟ်အရှင်မြတ် ၏ တန်ခိုးတော်အနန္တနှင့် သေပြီးနောက် ရှင်ပြန်ထကြရမည့်အရေးကို လွယ်ကူစွာ သဘောပေါက် လက်ခံ ယုံကြည်လာကြပေမည်။

**မြေထွက်သီးနှံ**

ထို့အတူ လူသားတို့ စဉ်းစားဆင်ခြင်အပ်သည့် အချက်တစ်ချက်မှာ မြေသည်သေလျက်ရှိသည်။ သွေ့ခြောက်လျက်ရှိသည်။ အလ္လာဟ်အရှင်မြတ်၏ကျေးဇူးတော်ဖြင့် မိုးရွာလာသည်။ မိုးရေနှင့် ➤➤

ذٰلِكَ بِاَنَّ اللّٰهَ هُوَ الْحَقُّ وَاَنَّهٗ يُحْيِ الْمَوْتٰى وَاَنَّهٗ عَلٰى كُلِّ شَيْءٍ قَدِيْرٌ ۙ⑥

၆။ ဤသည်တို့ ဖြစ်ရခြင်း အကြောင်းကား ဧကန်စင်စစ် အလ္လာဟ်အရှင်မြတ်သည်သာလျှင် အမှန်တည်ရှိတော်မူသော အရှင်ဖြစ်တော်မူခြင်းကြောင့်လည်းကောင်း၊ ဧကန်အမှန် ထိုအရှင်မြတ်သည်ပင် သေသူအပေါင်းကို ရှင်စေတော်မူမည့်အရှင် ဖြစ်တော်မူခြင်းကြောင့်လည်းကောင်း၊ မလွဲဧကန် ထိုအရှင်မြတ်သည် အရာခပ်သိမ်းတို့ကို စွမ်းဆောင်နိုင်တော်မူသောအရှင် ဖြစ်တော်မူခြင်းကြောင့် လည်းကောင်းဖြစ်ချေသည်။

وَّاَنَّ السَّاعَةَ اٰتِيَةٌ لَّا رَيْبَ فِيْهَا ۙ وَاَنَّ اللّٰهَ يَبْعَثُ مَنْ فِى الْقُبُوْرِ⑦

၇။ ထိုမှတပါးဧကန်မလွဲ ကိယာမတ်သည်လည်း (မုချ) ဆိုက်ရောက်မည်ဖြစ်သည်။ ယင်းကိယာမတ်နှင့် စပ်လျဉ်း၍ ယုံမှားသံသယဖြစ်ဖွယ်ရာ အလျှင်းမရှိပြီ။ ၎င်းပြင် အလ္လာဟ်အရှင်မြတ်သည် သင်္ချိုင်းများတွင် ရှိသူတို့ကို ဧကန်စင်စစ် ရှင်ပြန်ထစေတော်မူမည် ဖြစ်သတည်း။

---

➤➤ ထိတွေ့သည့်အခါ အဆိုပါမြေသေမှပင် အလွန်စိမ်းစိုသာယာ စိုပြည်သော သီးနှံမျိုးစုံ ပေါက်ရောက်လာကြပေသည်။ ဤကား အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်ပင် မျက်ဝါးထင်ထင်ပင်။

လူ့ဖြစ်စဉ်နှင့် မြေမှပေါက်ရောက်လာသော သီးနှံတို့၏ ဖြစ်စဉ်များကို ထောက်ရှုခြင်းအားဖြင့်။

(၁) တန်ခိုးတော်အနန္တနှင့် ပြည့်စုံတော်မူသော အလ္လာဟ်အရှင်မြတ်တစ်ပါး ရှိတော်မူကြောင်း။

(၂) ထိုအရှင်မြတ်သည် သေနေသော အရာများကို ပြန်လည်ရှင်စေတော်မူကြောင်း။

(၃) ထိုအရှင်မြတ်သည် အရာရာကို ပြုစွမ်းတော်မူနိုင်ကြောင်း။

(၄) ထိုအရှင်မြတ်သည် အရာရာ၌ အကြောင်းနှင့်အကျိုးကို ဒွန်တွဲ၍ ဖန်ဆင်းထားတော်မူပေရာ၊ ဤပစ္စက္ခ၌ လူသားတို့ ကျင့်မူဆည်းပူးထားကြသော ကောင်းမှု၊ မကောင်းမှုအစုစုတို့၏ ကောင်းကျိုး ဆိုးကျိုးများကို ခံစံကြရန်အတွက် ဤပစ္စက္ခဘဝ ကုန်ဆုံးပြီးနောက်တွင် နောင်တမလွန်ဘဝကား မုချရှိရပေမည်ဖြစ်ကြောင်း။

မြေထွက်အာဟာရများတွင် ဖုံးအုပ်လျက်ရှိသော အရည်အချင်းများသည် သုတ်ရည်၊ သွေးခဲ၊ အသားတုံးစသည်ဖြင့် အဆင့်ဆင့် တိုးတက်ကာ လူသားအဖြစ် ပေါ်ထွန်းလာသကဲ့သို့ လူသားတို့၌ ဖုံးအုပ်လျက်ရှိသော ကောင်းကျိုး၊ မကောင်းကျိုးဆိုင်ရာ အရည်အချင်းများသည်လည်း အဆင့်ဆင့် တိုးတက်ကာ ပြည့်ဝစုံလင်သော အကောင်အထည်များ၊ သရုပ်သဏ္ဌာန် မုချပေါ်ထွန်းလာရပေဦးမည်။ ထိုအချိန်ကား အခြားမဟုတ်၊ ရှင်ပြန်ထကြရမည့် နောင်တမလွန်ဘဝပင် ဖြစ်ကြောင်း ကောင်းစွာသိရှိရပေသည်။

وَمِنَ النَّاسِ مَنْ يُّجَادِلُ فِي اللّٰهِ بِغَيْرِ عِلْمٍ وَّلَا هُدًى وَّلَا كِتٰبٍ مُّنِيْرٍ ﴿٨﴾

၈။ စင်စစ် လူတို့တွင် အသိပညာ လုံးဝ မရှိဘဲ လျက်လည်းကောင်း၊ မည်သည့် သက်သေထင်ရှား တင်ပြချက်မျှမရှိဘဲလျက်လည်းကောင်း၊ မည်သည့် ရှင်းလင်းစေသော ကျမ်းဂန်မျှ မရှိဘဲလျက်လည်း ကောင်း၊ အလ္လာဟ်အရှင်မြတ်နှင့် ပတ်သက်၍ *အငြင်းအခုံ ပြုတတ်သူလည်း ရှိပေသည်။* [၁]

ثَانِيَ عِطْفِهٖ لِيُضِلَّ عَنْ سَبِيْلِ اللّٰهِ ۗ لَهٗ فِي الدُّنْيَا خِزْيٌ وَّنُذِيْقُهٗ يَوْمَ الْقِيٰمَةِ عَذَابَ الْحَرِيْقِ ﴿٩﴾

၉။ (မာန်မာနထောင်လွှားကာ) မိမိလည်ပင်းကို လိမ်လျက် (သူတပါးတို့အားလည်း) အလ္လာဟ်အရှင် မြတ်၏လမ်းတော်မှ လွဲမှားစေခြင်းငှာ ထိုသူ၌(ဤ) ပစ္စုပ္ပန်လောကတွင်လည်း ကျိုးယုတ်ရှက်ရဖြစ်ခြင်း သည်ရှိ၏။ "ကိယာမတ်" ရှင်ပြန်ထမည့် နေ့တွင် လည်း ငါအရှင်မြတ်သည် ထိုသူအား (ကျွမ်းလောင်စေ သော ငရဲ)မီး၏ ပြစ်ဒဏ်ကို မြည်းစမ်းစေတော်မူ မည် ဖြစ်ပေသည်။

ذٰلِكَ بِمَا قَدَّمَتْ يَدٰكَ وَاَنَّ اللّٰهَ لَيْسَ بِظَلَّامٍ لِّلْعَبِيْدِ ﴿١٠﴾

၁၀။ ဤသို့ဖြစ်ရခြင်းမှာ အသင်၏ လက်နှစ်ဖက် သည် တင်ကူး၍ပို့ခဲ့သော (ပြစ်မှုဒုစရိုက်များ) ကြောင့် ပင်။ အမှန်စင်စစ်သော်ကား အလ္လာဟ်အရှင်မြတ်သည် (မိမိ)ကျွန်များအား နှိပ်စက်ကလူ ပြုတော်မူသောအရှင် မဟုတ်ပြီ။

---

(၁) **ကျားကျား-မီးယပ်ဆိုသူများ။**

အထက်ပါ အာယတ်တော်များတွင် ကိယာမတ် ရှင်ပြန်ထကြရမည့်အကြောင်း၊ ကျိုးပြစ်ခံစံကြရမည့် အကြောင်းများနှင့် စပ်လျဉ်း၍ ကျိုးကြောင်းပြကာ အထင်အရှား မိန့်ဆိုထားတော်မူသည်။ သို့ပါသော်လည်း အချို့သူမိုက်များသည် ယင်းသို့ ထင်ရှားသော အထောက်အထားများကို ကြားသိကြရပြီးသည့်နောက်သော်မှပင် သူတစ်ပါးတို့အား လွဲမှားစေရန်အတွက် တစ်စုံတစ်ရာ အသိပညာ အထောက်အထား၊ ကောင်းကင်ကျကျမ်းချက် အသိပညာအထောက်အထား၊ စာပေကျမ်းဂန် အထောက်အထား မရှိဘဲလျက် မောက်မာပလွှားကာ "ကျားကျား မီးယပ်" ဆိုသကဲ့သို့ ဖွတ်မိုက်၍ အငြင်းအခုံပြုကြသည်။ ထိုသို့သော သူများသည် ဤပစ္စက္ခဘဝတွင်လည်း ကျိုးယုတ်ရှက်ရဖြစ်ကြရပေမည်။ နောင်တမလွန်ဘဝတွင်လည်း ငရဲမီးဒဏ် ခံကြရပေဦးမည်။ ဤကား မည်သူမပြု မိမိမှုပင်။

وَمِنَ النَّاسِ مَن يَعْبُدُ اللَّهَ
عَلَىٰ حَرْفٍ ۖ فَإِنْ أَصَابَهُ خَيْرٌ
اطْمَأَنَّ بِهِ ۖ وَإِنْ أَصَابَتْهُ
فِتْنَةٌ انقَلَبَ عَلَىٰ وَجْهِهِ
خَسِرَ الدُّنْيَا وَالْآخِرَةَ ۚ ذَٰلِكَ
هُوَ الْخُسْرَانُ الْمُبِينُ ﴿١١﴾

၁၁။ ၎င်းပြင် လူတို့တွင် ဘေးအစွန်းဖျားၥ် (ရပ်တည်၍)အလ္လာဟ်အရှင်မြတ်အား ခဝပ်ကိုးကွယ်သူလည်းရှိပေသည်။ တဖန် အကယ်၍ ထိုသူ၌အကျိုးကျေးဇူး တစ်စုံတစ်ရာ သက်ရောက်ခဲ့သည်ရှိသော် ထိုသူသည် ထိုအခြေအနေကို နှစ်သိမ့်ကျေနပ်ခဲ့လေသည်။ သို့ရာတွင် အကယ်၍ ထိုသူ၌ စမ်းသပ်မှု တစ်စုံတစ်ရာသက်ရောက်ခဲ့မူ ထိုသူသည် မိမိမျက်နှာလှည့်၍ ပြန်သွားခဲ့လေသည်။ ထိုသူသည် (ဤ)ပစ္စက္ခလောကီဘဝကိုလည်းကောင်း၊ နောင်တမလွန်ဘဝကိုလည်းကောင်း၊ (နှစ်ခုစလုံးကိုပင်) လက်လွတ် ဆုံးရှုံးခဲ့လေသည်။ ဤသည် ထင်ရှားသော ပျက်စီးဆုံးရှုံးမှုပင်တည်း။[၁]

يَدْعُو مِن دُونِ اللَّهِ
مَا لَا يَضُرُّهُ وَمَا لَا يَنفَعُهُ ۚ
ذَٰلِكَ هُوَ الضَّلَالُ الْبَعِيدُ ﴿١٢﴾

၁၂။ (စင်စစ်သော်ကား) ထိုသူသည် အလ္လာဟ်အရှင်မြတ်အားစွန့်၍ မိမိအား အကျိုးယုတ်စေနိုင်ခြင်း မရှိသောအရာကိုလည်းကောင်း၊ မိမိအား အကျိုးဖြစ်ထွန်းစေနိုင်ခြင်း မရှိသော အရာကိုလည်းကောင်း၊ ဟစ်ခေါ်လျက်ရှိပေသည်။ ဤကား (အမှန်တရားနှင့်) အလွန်ဝေးလံသော လမ်းမှားခြင်းပင်။

(၁) **ကိုယ်ကျိုးရှာအချောင်သမား၊ ခြံခုန်အယောင်ဆောင်များ။**

အချို့သူများသည် အစ္စလာမ်ကို နှစ်နှစ်ကာကာ ယုံကြည်ကြသည်မဟုတ်၊ အစ္စလာမ့်အရေးတွင် သို့လောသို့လော ဖြစ်နေကြပေသည်။ ၎င်းတို့သည် လောကီအကျိုးအတွက်သာလျှင် အစ္စလာမ်ကို လက်ခံထားကြပေသည်။ အစ္စလာမ်အတွင်းသို့ဝင်၍ လောကီအကျိုးရလျှင် အစ္စလာမ်ကို အမည်ခံ လက်ခံကြသည်။ ဒုက္ခတွေ့လျှင် အစ္စလာမ်ကိုစွန့်၍၊ ကုဖ်ရ်၊ ရှရ်စ်က်၏ အမိုက်မှောင်အတွင်းသို့ ပြန်လည်ဆင်းသက် သွားကြပြန်သည်။ အမှန်မှာ ထိုသို့သောသူများသည် ယခုခေတ်စကားနှင့် ရေးရမည်ဆိုလျှင် ခြံစည်းရိုးပေါ်တွင် ထိုင်နေသော ကိုယ်ကျိုးရှာ၊ အချောင်သမား၊ ခြံခုန်အရေခြုံ၊ အယောင်ဆောင်များသာ ဖြစ်ကြပေသည်။ ထိုသို့သော အယောင်ဆောင်များသည် နောက်ဆုံးတွင် နှစ်ဘဝစလုံး၌ ကျိုးယုတ်ရက်ရဖြစ်ကာ အရှုံးကြီး ရှုံးကြရပေသည်။

[တမန်တော်မြတ်က "မုနာဖစ်က်၏ ဥပမာသည်-သားလို၍ ဆိတ်အုပ် နှစ်အုပ်စပ်ကြားတွင် ပြေးလွှားနေသော ဆိတ်မနှင့်တူသည်။ ထိုဆိတ်မသည် တစ်ခါတစ်ရံ ဤဆိတ်အုပ်ထံသို့ ပြေးသည်၊ တစ်ခါတစ်ရံ ထိုဆိတ်အုပ်ထံသို့ပြေးသည်" ဟု ပုံခိုင်းမိန့်ကြားတော် မူခဲ့လေသည်။

ကြည့်-တမန်တော်မြတ်၏ ဩဝါဒတော်။ စာမျက်နှာ (၆၈)။]

يَدْعُوا لَمَنْ ضَرُّهٗٓ اَقْرَبُ مِنْ نَّفْعِهٖ ؕ لَبِئْسَ الْمَوْلٰى وَلَبِئْسَ الْعَشِيْرُ ﴿١٣﴾

၁၃။ (အမှန်စင်စစ်) ထိုသူသည် အကြင်အရာကို ဟစ်ခေါ်လျက်ရှိပေသည်။ ထိုအရာ၏ အကျိုးယုတ်စေမှုသည် ၎င်း၏အကျိုးဖြစ်စေခြင်းထက် ပိုမို၍ပင် နီးကပ်လျက်ရှိပေသည်။ စင်စစ် (ထိုသူဟစ်ခေါ်လျက်ရှိသောအရာမှာမူကား) အလွန်ယုတ်ညံ့သော ကြည့်ရှုထောက်မသူ၊ ၎င်းပြင် အလွန်ယုတ်ညံ့သော အဆွေခင်ပွန်းပင် ဖြစ်ပေသတည်း။

اِنَّ اللّٰهَ يُدْخِلُ الَّذِيْنَ اٰمَنُوْا وَعَمِلُوا الصّٰلِحٰتِ جَنّٰتٍ تَجْرِيْ مِنْ تَحْتِهَا الْاَنْهٰرُ ؕ اِنَّ اللّٰهَ يَفْعَلُ مَا يُرِيْدُ ﴿١٤﴾

၁၄။ ဧကန်စင်စစ် အလ္လာဟ်အရှင်မြတ်သည် သက်ဝင်ယုံကြည်ပြီး ကောင်းမြတ်သော အကျင့်သီလများကို ကျင့်မှုဆောက်တည်ကြကုန်သောသူတို့အား အကြင်ဥယျာဉ်များသို့ ဝင်ရောက်စေတော်မူမည်။ ထိုဥယျာဉ်များအောက်မှ စမ်းရေချောင်းများသည် စီးတွေလျက်ရှိကြပေမည်။ ဧကန်စင်စစ် အလ္လာဟ်အရှင်မြတ်သည် မိမိရည်ရွယ်တော်မူသောကိစ္စကို (ပြီးမြောက်အောင်) ပြုလုပ်တော်မူပေသတည်း။ [၁]

مَنْ كَانَ يَظُنُّ اَنْ لَّنْ يَّنْصُرَهُ اللّٰهُ فِى الدُّنْيَا وَالْاٰخِرَةِ فَلْيَمْدُدْ بِسَبَبٍ اِلَى السَّمَآءِ ثُمَّ لْيَقْطَعْ فَلْيَنْظُرْ هَلْ يُذْهِبَنَّ كَيْدُهٗ مَا يَغِيْظُ ﴿١٥﴾

၁၅။ မည်သူမဆို အလ္လာဟ်အရှင်မြတ်သည် ထိုရစူလ်တမန်တော်(မုဟမ္မဒ်)အား (ဤ)ပစ္စက္ခ မျက်မှောက်လောကတွင်လည်းကောင်း၊ နောင်တမလွန်တွင်လည်းကောင်း၊ အလျင်း အကူအညီပေးတော်မူမည်မဟုတ်ဟု ထင်မြင်ယူဆလျှက်ရှိလျှင် ထိုသူသည် ကြိုးတစ်ချောင်းကို မိုးကောင်းကင်အထိ ဆန့်တန်းဆွဲချိတ်ရမည်။ ထို့နောက် ၎င်းသည် (ယင်းအကူအညီကို) ဖြတ်တောက် (ရပ်စဲစေ)ရမည်။

(၁) ယုံကြည်ချက်ခိုင်မြဲသော မုအ်မင်န် သူတော်စင်များ။

အထက်တွင် ယုံကြည်ချက် မခိုင်မြဲသော၊ ကိုယ်ကျိုးရှာ အချောင်သမား၊ ခြံခုန်၊ အရေခြုံ၊ အယောင်ဆောင်များ၏ အကြောင်းကို မိန့်ဆိုထားတော်မူသည်။ ယခု ဤအာယတ်တော်တွင် ယုံကြည်ခိုင်မြဲသော သာသနာ့ အဆုံးအမများကို ကိုယ်စွမ်းရှိသမျှ ဉာဏ်စွမ်းရှိသမျှ သက်စွန့် ကြိုးပမ်းကျင့်မှု ဆောက်တည်ကြကုန်သော သာသနာ့ အာဇာနည်ကြီးများ ဖြစ်ကြကုန်သော မုအ်မင်န် သူတော်စင်များ၏ အကြောင်းကို မိန့်ဆိုထားတော်မူသည်။

(တစ်နည်း)

ထိုသူသည် ကြိုးတစ်ချောင်းကို (ယူကာ) မိမိလည်ပင်းကို ချည်၍ (အိမ်)ခေါင်မိုးအထိ ဆွဲငင် ဆန့်တန်းပြီးနောက် (မိမိလည်မျိုကို)ညှစ်သတ်ရမည်။ တစ်ဖန် မိမိကြံစည်ချက်သည် (မိမိအား) အမျက်ထွက်စေသော ကိစ္စကို ပျောက်လွင့်စေသလောဟု စဉ်းစားဆင်ခြင်၍ ကြည့်ရပေမည်။ ၁

وَكَذٰلِكَ اَنۡزَلۡنٰهُ اٰيٰتٍۭ بَيِّنٰتٍ ۙ وَّاَنَّ اللّٰهَ يَهۡدِىۡ مَنۡ يُّرِيۡدُ ۝١٦

၁၆။ စင်စစ်သော်ကား ဤနည်းအတိုင်းပင် ငါ အရှင်မြတ်သည် ယင်းကုရ်အာန်ကျမ်းတော်မြတ်ကို ထင်ရှားလှစွာသောသက်သေလက္ခဏာ အာယတ်တော်များအဖြစ်ချပေးသနားတော်မူခဲ့ပေသည်။ ဧကန်စင်စစ် အလ္လာဟ်အရှင်မြတ်သည် မိမိရည်စူးတော်မူသောသူအား တရားလမ်းမှန်ကို ညွှန်ပြတော်မူပေသတည်း။

---

**① တမန်တော်မြတ်၏ အောင်မြင်မှုကို မမြင်လိုက ကြိုးဆွဲချသေရုံပင်။**

ဤအာယတ်တော်တွင် "လန်ယန်ဆုရဟူ" ဟူသော ဝါကျ၌ပါရှိသော "ဟူ" ဟူသော နာမ်စားသည် တမန်တော်မြတ်အား ရည်ညွှန်းသည်မှာ ထင်ရှားလှပေသည်။ ကုရ်အာန်ကျမ်းမြတ်ကို လေ့လာသူတိုင်း ဤအချက်ကို ကောင်းစွာသိနိုင်ပေသည်။

အထက်တွင် မုအ်မင်န်သူတော်စင်များ၏ နောင်ရေးကို မိန့်ဆိုထားတော်မူသည်။ ဤ အာယတ်တော်တွင် တမန်တော်မြတ်၏နောင်ရေးကို မိန့်ဆိုထားတော်မူသည်။ ဆိုလိုသည်ကား အလ္လာဟ်အရှင်မြတ်သည် တမန်တော်မြတ်အား လောကီ၊ လောကုတ္တရာ ရေးရာများတွင် အောင်မြင်စေတော်မူမည့်အကြောင်း ကတိပြုထားတော်မူသည်။ ကြည့်-ကုရ်အာန် (၄၀:၅၁)။

ထိုအရှင်မြတ်၏ ကတိတော်များသည် မှန်ကန်သည်သာဖြစ်သည်။ အတည်ဖြစ်သည်သာဖြစ်သည်။ အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်ဖြင့် တမန်တော်မြတ်သည် နှစ်ဘဝစလုံးတွင် အောင်မြင်ချေပြီ။ မလိုမုန်းတီးသော ကာဖိရ်များသည် အဘယ်မျှပင် အမျက်ထွက်ကြသော်လည်း မကျေမချမ်း ဖြစ်ကြသော်လည်း၊ ဒေါသထကြသော်လည်း၊ တမန်တော်မြတ်၏ နှစ်ဘဝအောင်မြင်မှုကို ဟန့်တားလိုကြသော်လည်း အလ္လာဟ်အရှင်မြတ်၏ ကတိတော်နှင့်အညီ တမန်တော်မြတ်သည် နှစ်ဘဝစလုံးတွင် အောင်မြင်ခြင်းကြီးမက အောင်မြင်တော်မူမည်မှာ မလွဲဧကန် အမှန်ပင်။ ယင်းသို့ တမန်တော်မြတ် အောင်မြင်တော်မူသည့်အတွက် မလိုမုန်းတီးသော ကာဖိရ်များသည် အတိုင်းထက်အလွန် ဒေါသအမျက် ထွက်နေကြလျှင် မိမိတို့သည် အလ္လာဟ်အရှင်မြတ်၏ အလိုတော်ကို ပိတ်ပင်တားဆီးနိုင်ကြမည်ဟု ထင်မှတ်နေကြလျှင် ကိုယ်စွမ်းရှိသမျှ၊ ဉာဏ်စွမ်းရှိသမျှ ကြိုးစားအားထုတ်၍ ကြည့်သင့်ကြပေသည်။ အမျိုးမျိုး ကြိုးစားအားထုတ်သော်လည်း ➤➤

إِنَّ الَّذِينَ آمَنُوا وَالَّذِينَ
هَادُوا وَالصَّابِئِينَ
وَالنَّصَارَىٰ وَالْمَجُوسَ
وَالَّذِينَ أَشْرَكُوا إِنَّ اللَّهَ
يَفْصِلُ بَيْنَهُمْ يَوْمَ الْقِيَامَةِ ۚ
إِنَّ اللَّهَ عَلَىٰ كُلِّ شَيْءٍ
شَهِيدٌ ﴿١٧﴾

၁၇။ ဧကန်စင်စစ် "မုအ်မင်န်" သက်ဝင်ယုံကြည်သူတို့သည်လည်းကောင်း၊ ရေဝတီဘာသာဝင်တို့သည်လည်းကောင်း၊ ဆွာဗီတို့သည်လည်းကောင်း၊ နဆွ်ရာနီတို့သည်လည်းကောင်း၊ မ ဂျူစီ [၁] (မီးကိုးကွယ်သူ) တို့သည်လည်းကောင်း၊ "မုရှ်ရစ်ကီ" တစ်စုံတစ်ရာကို အလ္လာဟ်အရှင်မြတ်နှင့် တွဲဖက်ကိုးကွယ်သူတို့သည်လည်းကောင်း၊ မလွဲဧကန် အလ္လာဟ်အရှင်မြတ်သည် "ကိယာမတ်" ရှင်ပြန်ထမည့်နေ့တွင် ၎င်းတို့စပ်ကြားဝယ် စီရင်ဆုံးဖြတ်တော်မူမည်ဖြစ်သည်။ စင်စစ်ဧကန် အလ္လာဟ်အရှင်မြတ်သည်အရာခပ်သိမ်းတို့ကို(မျက်မြင်ဒိဋ္ဌ) သိမြင်တော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

---

➤➤ မိမိတို့၏ လိုအင်ဆန္ဒမပြည့်ဝလျှင် နောက်ဆုံးတွင် မိမိတို့၏ ဒေါသအမျက်ကို ဖြေဖျောက်နိုင်ရန်အတွက် အိမ်ခေါင်တွင် ကြိုးချည်ပြီး ကြိုးဆွဲချ၍ သေသင့်ကြပေသည်။

ဤအာယတ်တော်နှင့် စပ်လျဉ်း၍ အခြားအဖွင့်တစ်ရပ်မှာ မလိုမုန်းတီးသော ကာဖိရ်များသည် တမန်တော်မြတ်၏ နှစ်ဘဝ အောင်မြင်ရေးကိုကြည့်ပြီး ဒေါသထွက်နေကြလျှင်၊ တတ်စွမ်းနိုင်ကြပါက မိုးကောင်းကင်၌ ကြိုးချည်၍ အထက်သို့တက်ပြီး တမန်တော်မြတ်အား အလ္လာဟ်အရှင်မြတ်၏ ချီးမြှင့်တော်မူသော ဝဟီကို ဖြတ်တောက် ရပ်ဆိုင်းပစ်သင့်ကြပေသည်။ ကာဖိရ်များသည် ဤသို့ကား အသို့လျှင် ပြုစွမ်းနိုင်ကြအံ့နည်း။

(၁) **<u>လူတိုင်းသည် ကိယာမတ်နေ့တွင် အလ္လာဟ်အရှင်မြတ်၏ အဆုံးအဖြတ်ကို ခံကြရမည်သာ ဖြစ်သည်။</u>**

"မဂျူစ်" ဟူသည် အကြင်သူများတည်း။ ၎င်းတို့သည် အရဗ် မဟုတ်ကြပေ။ ၎င်းတို့၏ ပြောဆိုချက်အရ ၎င်းတို့သည် တမန်တော် 'ဇုရ်ဟုရ်ဒ်' (Zoiosaster) ၏ နောက်လိုက်တပည့်သားများ ဖြစ်ကြပေသည်။ သို့ရာတွင် ၎င်းတို့သည် (တောင်ဟီဒ်) တစ်ဆူတည်းသော အလ္လာဟ်အရှင်မြတ်အား ယုံကြည်ကိုးကွယ်မှုကို စွန့်လွှတ်ကာ (ဆနဝီယတ်) ကိုးကွယ်ရာနှစ်ပါးကို ဆည်းကပ် ကိုးကွယ်ကြပေသည်။

၎င်းတို့၏ ကိုးကွယ်ရာနှစ်ပါးမှာ 'ယာဇ်ဒါန်' နှင့် 'အဟ်ရမန်' ဖြစ်သည်။ ၎င်းတို့၏ ယူဆချက်အရ ယာဇ်ဒါန်သည် အလင်းနှင့် အကောင်းကို ဖန်ဆင်းသော ကိုးကွယ်ရာဖြစ်သည်။ အဟ်ရမန်သည် အမှောင်နှင့် အဆိုးကို ဖန်ဆင်းသော ကိုးကွယ်ရာဖြစ်သည်။ ၎င်းတို့၏ ယူဆချက်အရ ဤစကြာဝဠာကြီး ဖြစ်ပေါ်လာခြင်းမှာ အဆိုပါ ကိုးကွယ်ရာ နှစ်ပါးတို့၏ ပဋိပက္ခမှု၏ အကျိုးပင်ဖြစ်သည်။

ကြည့်-မာဂျိဒီ။ အ-၄။ စ-၆၈၀။ အအ-၂၂။

أَلَمْ تَرَ أَنَّ اللَّهَ يَسْجُدُ لَهُ مَنْ فِي السَّمَاوَاتِ وَمَنْ فِي الْأَرْضِ وَالشَّمْسُ وَالْقَمَرُ وَالنُّجُومُ وَالْجِبَالُ وَالشَّجَرُ وَالدَّوَابُّ وَكَثِيرٌ مِنَ النَّاسِ ۖ وَكَثِيرٌ حَقَّ عَلَيْهِ الْعَذَابُ ۗ وَمَنْ يُهِنِ اللَّهُ فَمَا لَهُ مِنْ مُكْرِمٍ ۚ إِنَّ اللَّهَ يَفْعَلُ مَا يَشَاءُ ۩ ﴿١٨﴾

**၁၈။** ဧကန်မလွဲ မိုးကောင်းကင်များ၌ ရှိသူတို့သည်လည်းကောင်း၊ ပထဝီမြေ၌ရှိသူတို့သည်လည်းကောင်း၊ နေသည်လည်းကောင်း၊လသည်လည်းကောင်း၊ ကြယ်နက္ခတ်များသည် လည်းကောင်း၊ တောင်များသည် လည်းကောင်း၊ သစ်ပင်များသည် လည်းကောင်း၊ တိရစ္ဆာန်များသည်လည်းကောင်း၊ မြောက်များစွာသော လူတို့သည်လည်းကောင်း၊ အလ္လာဟ်အရှင်မြတ်အား သာလျှင် ဦးချကြသည်ကို အသင်သည် မသိပါသလော။

သို့ရာတွင် (လူတို့အနက်) မြောက်များစွာသောသူတို့အပေါ်၌ ပြစ်ဒဏ်သည် အတည်ဖြစ်လေပြီ။ စင်စစ်သော်ကား မည်သူအားမဆို အလ္လာဟ်အရှင်မြတ်သည် ဂုဏ်အသရေ ယုတ်ညံ့စေတော်မူပါလျှင်၊ ထိုသူအား (ဂုဏ်အသရေ) ချီးမြှင့်မည့်သူဟူ၍ တစ်ဦးတစ်ယောက်မျှပင် မရှိတော့ပြီ။ ဧကန်စင်စစ် အလ္လာဟ်အရှင်မြတ်သည် မိမိအလိုရှိတော်မူသည်ကို ပြုလုပ်တော် မူပေသတည်း။ ၁

---

(၁) အဖန်ဆင်းခံ သက်ရှိသက်မဲ့ အားလုံးတို့သည် အလ္လာဟ်အရှင်မြတ်အား မိမိတို့၏အခြေအနေနှင့် လျော်ညီစွာ ဦးလည်မသုန် ကျိုးနွံလျက် ရှိကြပေသည်။ နာခံလျက်ရှိကြပေသည်။ လူသားတို့သည် အဖန်ဆင်းခံများတွင် အားလုံးတို့ထက် အသိဉာဏ် အမြော်အမြင် ဆင်ခြင်တုံတရား အထူးတလည် ချီးမြှင့်ခြင်း ခံခဲ့ကြရသည်ဖြစ်ရာ အားလုံးတို့ထက်ပင် ပိုမို၍ အလ္လာဟ်အရှင်မြတ်အား ကျိုးနွံသင့်ကြပေသည်။ ယခုမူကား အချို့ လူသားတို့သည် မိမိတို့၏ အသိဉာဏ်ကို စနစ်တကျ အသုံးမပြုကြသည့်အတွက် အမြင်မှန်မရရှိဘဲ ထိုအရှင်မြတ်အားပင် သွေဖည်လျက် ရှိကြပေသည်။ လွဲမှားလျက် ရှိကြပေသည်။ ယင်းသို့သော သူများအဖို့ ပြစ်ဒဏ်တော်သည်လည်း အတည်ဖြစ်ချေပြီ။

ဤအာယတ်တော်နှင့် အနက်သဘောတူ အာယတ်တော်များသည် ကုရ်အာန် (၁၃း၁၅။ ၁၆း၄၉)တွင် လာရှိခဲ့ချေပြီ။ ယင်းအာယတ်တော်များနှင့် စပ်လျဉ်း၍ အဖွင့်များကိုလည်း အကျယ်တဝင့် ရေးသားခဲ့ပေပြီ။ ထို့အတွက် အကျယ်မရေးပြီ။ သက်ဆိုင်ရာ အဖွင့်များကို ပြန်လည်ရှုပါကုန်။

١٩။ ဤအုပ်စုနှစ်စုကား မိမိတို့အား ဖန်ဆင်းမွေးမြူ တော်မူသော အရှင်မြတ်နှင့် ပတ်သက်၍ အငြင်းပွားခဲ့ ကြသောအုပ်စုနှစ်စုပင်။ [၁] သို့ဖြစ်ပေရာ မယုံမကြည် သွေဖည်ငြင်းပယ်ခဲ့ကြသောသူတို့အဖို့ မီးဖြင့်ပြီးသော အဝတ်အထည်များသည် ကိုက်ညှပ် (ချုပ်စပ်)ပြီး ဖြစ်ပေမည်။ (ထို့ပြင်) ၎င်းတို့၏ဦးခေါင်းများထက်မှ ကျိုက်ကျိုက်ဆူသောရေ သွန်းလောင်းခြင်းခံရမည်။

هَٰذَانِ خَصْمَانِ اخْتَصَمُوا فِي رَبِّهِمْ ۖ فَالَّذِينَ كَفَرُوا قُطِّعَتْ لَهُمْ ثِيَابٌ مِّن نَّارٍ يُصَبُّ مِن فَوْقِ رُءُوسِهِمُ الْحَمِيمُ ﴿١٩﴾

၂၀။ ထိုရေကြောင့် ထိုသူတို့၏ ဝမ်းဗိုက်များ၌ ရှိသောအရာ (အူသိမ်အူမ၊ အသည်း၊ နှလုံး) စသည် တို့သည်လည်းကောင်း၊ အသားအရည်တို့သည် လည်းကောင်း၊ အရည်ပျော်၍ သွားကြပေမည်။

يُصْهَرُ بِهِ مَا فِي بُطُونِهِمْ وَالْجُلُودُ ﴿٢٠﴾

---

(၁) **ဤကမ္ဘာမှာ အုပ်စုနှစ်ခုသာ။**

ဤပစ္စက္ခကမ္ဘာ၌ အမြင်အားဖြင့်၊ အမည်အားဖြင့်၊ အရေအတွက်အားဖြင့် အုပ်စု အမြောက်အမြား တွေ့ရှိရပေသည်။ ကုရ်အာန်ကျမ်းမြတ် (၂၂း၁၇) တွင်လည်း အချို့အုပ်စုများ၏ အမည်များကို ထုတ်ဖော် မိန့်ဆိုထားတော်မူသည်။ ယင်းသည့် အုပ်စုများသည် အမြင်အားဖြင့် အမည်အားဖြင့်၊ အရေအတွက်အားဖြင့် အဘယ်မျှပင် များပြားနေလင့်ကစား၊ မည်သည့်အုပ်စု မှန်သည်၊ မည်သည့်အုပ်စု မှားသည်ဟူသော သဘောအရ မှတ်ကျောက်တင်ကြည့်လိုက်သည့်အခါ အမှန်မှာ ဤကမ္ဘာမှာ မုအ်မင်န်အုပ်စုနှင့် ကာဖိရ်အုပ်စုဟူ၍ အုပ်စုနှစ်ခုသာ ရှိပေသတည်း။

မုအင်မင်န် အုပ်စုသည် အလ္လာဟ်အရှင်မြတ်အား မှန်ကန်စွာ ယုံကြည်သည်။ ထိုအရှင်မြတ်၏ အမိန့်တော်များကို မှန်ကန်စွာ လိုက်နာကျင့်သုံးကြသည်။ ကာဖိရ်အုပ်စုသည် အလ္လာဟ်အရှင်မြတ်အား မယုံကြည်ပေ။ ထိုအရှင်မြတ်၏ အမိန့်တော်များကိုလည်း မနာခံကြပေ။

အဆိုပါ အုပ်စုနှစ်ခုသည် ယုံကြည်ချက်၊ ကျင့်မှုချက်တွင် ကွဲပြားနေကြသည်ဖြစ်ရာ အရေးကိစ္စ အဝဝတွင် အချင်းချင်း အတိုက်အခံဖြစ်လျက် ရှိကြပေသည်။ ပြိုင်ဆိုင်လျက် ရှိကြပေသည်။ ဤကား အထင်အရှားပင်။

မုအ်မင်န် အုပ်စုသည် မှန်သော ယုံကြည်မှု၊ မှန်သော အကျင့်သီလများကြောင့် ကောင်းမြတ်သော အကျိုးကို ရရှိပေမည်။ (ဝါ) ဂျန္နတ်သို့ လားရမည်။ ကာဖိရ် အုပ်စုသည် မှားသော ယုံကြည်မှု၊ မှားသောအကျင့်၊ ဒုစရိုက်မှုများကြောင့် ဆိုးရွားသော အကျိုးကို ခံစားရပေမည်။ (ဝါ) ဂျဟန္နမ် ငရဲသို့ လားကြရပေမည်။

ဤအာယတ်တော်များတွင် ငရဲတွင် ကာဖိရ်တို့ ခံစားကြရမည့် ပြစ်ဒဏ်များကို မိန့်ဆိုထားတော်မူသည်။ ရှေ့လာလတ္တံ့သော အာယတ်တော်များတွင် ဂျန္နတ်တွင် မုအ်မင်န်များ ခံစားကြရမည့် အမတသုခများကို မိန့်ဆိုထားတော်မူသည်။

၂၁။ ထိုမှတပါး ၎င်းတို့အဖို့ သံတုတ်များလည်း ရှိကြပေမည်။

وَلَهُمْ مَّقَامِعُ مِنْ حَدِيْدٍ ۝٢١

၂၂။ ၎င်းတို့သည် ဒုက္ခဆင်းရဲမှုကြောင့် ယင်း (ဂျဟန္နမ် ငရဲဘုံ)မှ ထွက်ရန်ကြံရွယ်ကြသည့်အခါ တိုင်း၊ ယင်း(ဂျဟန္နမ်ငရဲဘုံ)ထဲသို့ပင် ပြန်လည်ပို့ ခြင်းကိုခံကြရပေမည်။ ထို့ပြင် (ကောင်းကင်တမန်များ က ၎င်းတို့အား ယခုသော်) အသင်တို့သည် မီး၏ ပြစ်ဒဏ်ကိုပင် မြည်းစမ်းလျက်ရှိကြလေကုန် (ဟု ပြောဆိုကြအံ့သတည်း။)

كُلَّمَآ اَرَادُوْٓا اَنْ يَّخْرُجُوْا مِنْهَا مِنْ غَمٍّ اُعِيْدُوْا فِيْهَا ۗ وَذُوْقُوْا عَذَابَ الْحَرِيْقِ ۝٢٢

၂၃။ ဧကန်မလွဲအလ္လာဟ်အရှင်မြတ်သည် သက်ဝင် ယုံကြည်ခဲ့ကြသည့်ပြင် ကောင်းမြတ်သော အကျင့် သီလများကိုလည်း ကျင့်မူဆောက်တည်ခဲ့ကြကုန်သော သူတို့အား အကြင်ဥယျာဉ်များသို့ ဝင်ရောက်စေတော် မူပေမည်။ထိုဥယျာဉ်များအောက်မှ ချောင်းများစီးတွေ လျက်ရှိကြပေမည်။ ထိုသူသည် ယင်းဥယျာဉ်များတွင် ရွှေလက်ကောက် (လက်မောင်းပတ်)များဖြင့်လည်း ကောင်း၊ ပုလဲများဖြင့်လည်းကောင်း တန်ဆာဆင်ယင် ပေးခြင်းကို ခံကြရပေမည်။ ထိုမှတပါး ယင်းဥယျာဉ် များတွင် ၎င်းတို့၏ ဝတ်စားတန်ဆာများသည် ပိုး အဝတ်များပင် ဖြစ်ချေမည်။

اِنَّ اللّٰهَ يُدْخِلُ الَّذِيْنَ اٰمَنُوْا وَعَمِلُوا الصّٰلِحٰتِ جَنّٰتٍ تَجْرِيْ مِنْ تَحْتِهَا الْاَنْهٰرُ يُحَلَّوْنَ فِيْهَا مِنْ اَسَاوِرَ مِنْ ذَهَبٍ وَّلُؤْلُؤًا ۗ وَلِبَاسُهُمْ فِيْهَا حَرِيْرٌ ۝٢٣

၂၄။ စင်စစ် ၎င်းတို့သည် (ဤပစ္စက္ခဘဝတွင်) စင်ကြယ်သန့်ရှင်းသောစကား (ကလိမတ် တွိုက်ယိ ဗဟ်)ကိုလည်း ညွှန်ကြားပြသခြင်း ခံခဲ့ကြရလေသည်။ ထိုမှတပါး ချီးမွမ်းထောမနာပြုခြင်းကို ခံယူထိုက် တော်မူသော အရှင်မြတ်၏လမ်းတော်ကိုလည်း ညွှန် ကြားပြသခြင်း ခံခဲ့ကြရကုန်သတည်း။ ၁

وَهُدُوْٓا اِلَى الطَّيِّبِ مِنَ الْقَوْلِ ۚۖ وَهُدُوْٓا اِلٰى صِرَاطِ الْحَمِيْدِ ۝٢٤

(၁) ဆိုလိုသည်ကား "ချီးမွမ်းထောပနာ ပြုခြင်းကို ခံယူထိုက်တော်မူသော အရှင်မြတ်၏ လမ်းတော်" ▷▷

إِنَّ الَّذِينَ كَفَرُوا وَيَصُدُّونَ عَن سَبِيلِ اللَّهِ وَالْمَسْجِدِ الْحَرَامِ الَّذِي جَعَلْنَاهُ لِلنَّاسِ سَوَاءً الْعَاكِفُ فِيهِ وَالْبَادِ ۚ وَمَن يُرِدْ فِيهِ بِإِلْحَادٍ بِظُلْمٍ نُّذِقْهُ مِنْ عَذَابٍ أَلِيمٍ ﴿٢٥﴾

၂၅။ ကေန်စင်စစ် အကြင်သူတို့သည် သွေဖည်ငြင်းပယ်ခဲ့ကြသည့်ပြင် (သူတပါးတို့အားလည်း) အလ္လာဟ်အရှင်မြတ်၏ လမ်းတော်မှလည်းကောင်း၊ *အကြင်ရှိသေအပ်သော မတ်စ်ဂျိဒ် ဗလီဝတ်ကျောင်းတော်မှလည်းကောင်း၊* [၁] ပိတ်ပင်တားဆီးကြကုန်၏။ ငါအရှင်မြတ်သည် ယင်းဗလီဝတ်ကျောင်းတော်ကို ယင်း၌ အမြဲနေထိုင်သောသူ၊ ပြင်ပမှ (ခေတ္တခဏ) လာရောက်သောသူဟူ၍ (ခွဲခြားခြင်းမရှိဘဲ) လူသားတို့အဖို့ ညီတူညီမျှ (အခွင့်အရေးခံစားရာ ဗဟိုဌာန) အဖြစ် ပြဋ္ဌာန်းထားတော်မူခဲ့၏။ [၂] သို့ရာတွင်မူကား မည်သူမဆိုယင်းဗလီဝတ်ကျောင်းတော်၌တစ်စုံတစ်ရာ အယူဝါဒဖောက်ပြန်မှု၊ တစ်စုံတစ်ရာ မတရားမှုကို [(တစ်နည်း) တစ်စုံတစ်ရာ အယူဝါဒ ဖောက်ပြန်မှုကို မတရားသဖြင့်] ကြံရွယ်သည်ရှိသော် ငါအရှင်မြတ်သည် ထိုသူအား နာကျင်ဖွယ်ဖြစ်သော ပြစ်ဒဏ်ကို မြည်းစမ်းစေတော် မူအံ့သတည်း။

---

➤➤ ဟူသည် အကြင်ဌာနကို ဆိုလိုသည်။ ယင်းဌာနတွင် မုအ်မင်န်များသည် မိမိတို့၏ အရှင်သခင်အား မိမိတို့အပေါ်၌ ထိုအရှင်မြတ် ပြုထားတော်မူသော ကျေးဇူးတော်များကို ထုတ်ဖော်ထောပနာ ပြုကြမည်ဖြစ်သည်။

အချို့ မုဖတ်စ်စစ်ရ်များက "စင်ကြယ်သန့်ရှင်းသောစကား"ဟူသည် ကုရ်အာန်ကို ဆိုလိုကြသည်။

အချို့က "လာအိလာဟ အစ်လ္လလ္လာဟ်" ကို ဆိုလိုကြသည်။ အချို့က ရှရီအတ်၌လာရှိသော အလ္လာဟ်အရှင်မြတ်အား အောက်မေ့တသ သတိရစေသော စာပိုဒ်များကို ဆိုလိုကြသည်။

"ချီးမွမ်းထောပနာခြင်းကို ခံယူထိုက်တော်မူသော အရှင်မြတ်၏ လမ်းတော်" ဟူသည် ဤပစ္စက္ခဘဝတွင် ညွှန်ပြခြင်းခံရသော ဖြောင့်မတ်မှန်ကန်သော တရားလမ်းကို ဆိုလိုကြသည်။ ကြည့်-အိဗ်နူကဆီရ်။

(၁) **<u>မတ်စ်ဂျိဒ်ဒေဟရာမ်</u>**

'မတ်စ်ဂျိဒ်ဒေဟရာမ်' ဟူသည် ဟရမ်ဟူ၍သတ်မှတ်ထားတော်မူသော ပရဝဏ်တစ်ခုလုံးကို ဆိုလိုသည်။

(၂) **<u>မက္ကာမြို့တော်ရှိ အဆောက်အအုံများကို ရောင်းခြင်းနှင့် ငှားခြင်း။</u>**

မက္ကာမြို့တော်ရှိ တိုက်တာဂေဟာများကို ရောင်းပိုင်ခွင့် သို့မဟုတ် ငှားပိုင်ခွင့် ရှိမရှိ၊ ဤတွင် အဆိုကွဲပြားလျက် ရှိပေသည်။

(က) အလ္လာဟ်အရှင်မြတ်သည် ဟရမ်ပရဝဏ် တစ်ခုလုံးကို မုအ်မင်န်တိုင်း လွတ်လပ်စွာ ဝင်ထွက်သွားလာနိုင်ရန်အလို့ငှာ ကမ္ဘာ့ငြိမ်းချမ်းရာ ဗဟိုဌာနအဖြစ် သတ်မှတ်ထားတော်မူသည်။ ယင်းဟရမ်အတွင်း၌➤➤

وَإِذْ بَوَّأْنَا لِإِبْرَٰهِيمَ مَكَانَ الْبَيْتِ أَن لَّا تُشْرِكْ بِي شَيْـًٔا وَطَهِّرْ بَيْتِيَ لِلطَّآئِفِينَ وَالْقَآئِمِينَ وَالرُّكَّعِ السُّجُودِ ﴿٢٦﴾

၂၆။ ထိုမှတပါး (အို-နဗီတမန်တော်၊ ပြန်လည် သတိရပါလေ၊) တစ်ရံရောအခါဝယ် ငါအရှင်မြတ် သည် (နဗီတမန်တော်) အီဗ်ရာဟီမ်အား (ထူးမြတ် သော)အိမ်တော်၏နေရာကို ညွှန်ပြ၍ ပေးတော်မူခဲ့၏။ (ထို့နောက် ဤသို့ အမိန့်တော်ထုတ်ပြန်တော်မူခဲ့၏။ အို-အီဗ်ရာဟီမ်)အသင်သည် မည်သည့် တစ်စုံတစ်ရာ ကိုပင် ငါအရှင်မြတ်နှင့် တွဲဖက် (နှိုင်းယှဉ်ကိုးကွယ်) ခြင်းကို မပြုပါလေနှင့်။ ထို့ပြင် အသင်သည် ငါ အရှင်မြတ်၏ (ထူးမြတ်လှသော) အိမ်တော်ကို တွဝါဖ် လှည့်သူတို့အဖို့ လည်းကောင်း၊ 'ကိယာမ်' ရပ်သူတို့ အဖို့လည်းကောင်း၊ 'ရုကူအ်' ဦးညွှတ်သူတို့ နှင့် 'စဂျ်ဒဟ်' ပျပ်ဝပ် ဦးချသူတို့အဖို့ လည်းကောင်း၊ သန့်ရှင်းစင်ကြယ်အောင် ပြုလုပ်၍ထားရှိပါလေ။ ၁

➤➤ နိုင်ငံသား၊ နိုင်ငံခြားသား၊ အမြဲနေထိုင်သူ၊ ခေတ္တခဏဝင်ရောက်တည်းခိုသူဟူ၍ ခွဲခြားမှု အလျှင်းမရှိ။ အားလုံးအခွင့်တူ၊ အာဏာတူ၊ တန်းတူ၊ အတူတူသာဖြစ်ကြပေသည်။ ဟရမ်အတွင်း၌ မည်သူ တစ်ဦးတစ်ယောက်မျှ ပုဂ္ဂလိကပိုင်ဆိုင်ခွင့်လည်းမရှိ။ သူတစ်ပါးအား အကျိုးခံစားခြင်းမှ ပိတ်ပင်တားဆီး ပိုင်ခွင့်လည်းမရှိ။ မြေများကို ငှားပိုင်ခွင့်လည်းမရှိ။ မက္ကာမြို့တော်ရှိ တိုက်တာဂေဟာများကို ရောင်းဝယ်ခြင်းလည်း မပြုအပ်။ ဤအကြောင်းနှင့် စပ်လျဉ်း၍ ဆွဟာဗဟ်သာဝကကြီးများနှင့် တာဗီအီမျိုး၏ (ရိဝါယတ်)ကျမ်းချက်များကို အထင်အရှား တွေ့ရှိရပေ သည်။ ဟနဖီဓမ္မသတ်ရှင်များကလည်း ဤအာယတ်တော်ကို အထောက်အထားပြုပြီး ဟရမ်မြေသည် 'ဝကဖ်'အဖြစ် အလှူဒါနပြုလုပ်ထားသော သာသနာ့မြေပင်ဖြစ်သည်ဟု ဆိုကြလေသည်။

ကြည့်-မာဂျိဒီ၊ အ-၄၊ စ-၆၈၂၊ အအ-၃၃။

(ခ) ဟနဖီအာလင်မ်များသည် ဤအဖွင့်ကို နှစ်ခြိုက်၍ ဤအာယတ်တော်ကို အထောက်အထားပြုကာ ဓမ္မသတ်ရေးမှတ်ခဲ့ကြသည်မှာ 'ဟရမ်'ပရဝဏ် တစ်ခုလုံး၏မြေသည် 'ဝကဖ်'အဖြစ် လှူဒါန်းထားသော သာသနာ့ မြေနှင့်တူသည်။ ယင်းဟရမ်အတွင်း၌ ပုဂ္ဂလိက ပိုင်ဆိုင်သည်ဟု အဆိုပြုခြင်း၊ သူတစ်ပါးအား အကျိုးခံစားခြင်းမှ ပိတ်ပင်ခြင်း၊ မြေငှားခြင်း မပြုပိုင်ချေ။ ဤအကြောင်းနှင့် စပ်လျဉ်း၍ အချို့သြဝါဒတော်များ လည်း လာရှိပေသည်။ ယင်းသည့် သြဝါဒတော်များကို ဟိဒါယဟ်၊ ဒုရ်ရီမန်ဆူရ်ကျမ်းများတွင် ဖော်ပြထားသည်။ သို့ရာတွင် အီမာမ် အဗူဟာနီဖဟ်သခင်ထံမှပင် ပြုပိုင်သည်ဟူသော အဆိုတစ်ရပ်လည်းလာရှိပေသည်။ ဤသည့်အဆိုအရပင် ဓမ္မသတ် အဆုံးအဖြတ် ပေးရပေသည်။ ဤအတိုင်း ရှုဟ်ကျမ်းတွင်လာရှိပေသည်။ ထာနဝီ။ အ-၇၊ စ-၆၉။

၁ **<u>အိမ်တော်သည် အထူးလေးစားရာ၏၊ ကိုးကွယ်ရာကားမဟုတ်။</u>**

အိမ်တော်သည် အလ္လာဟ်အရှင်မြတ်၏ အိမ်တော်ဖြစ်သည်၊ အထူး ရိုသေလေးစားရာသည်၊➤➤

وَأَذِّنْ فِي النَّاسِ بِالْحَجِّ يَأْتُوكَ رِجَالًا وَعَلَىٰ كُلِّ ضَامِرٍ يَأْتِينَ مِن كُلِّ فَجٍّ عَمِيقٍ ﴿٢٧﴾

၂၇။ ၎င်းပြင် အသင်သည် လူခပ်သိမ်းတို့အား (ထူးမြတ်လှစွာသော ယင်းအိမ်တော်သို့ လာရောက်ဖူးမြော်) ဟဂ်ျပြုကြရန် ကြေညာ(ဖိတ်ခေါ်)ပါလေ။ (ထိုအခါ) လူတို့သည် အလွန်ဝေးလံသော လမ်းခရီးတိုင်းမှ ခြေကျင်လည်းကောင်း၊ ကျုံလှီပိန်ချုံးသော ကုလားအုတ် အသီးသီးပေါ်၌ စီးနင်း၍လည်းကောင်း၊ အသင့်ထံသို့ လာရောက်ကြပေမည်။ ၁

---

➤➤ မုအ်မင်န်တိုင်း လေးစားသည်။ အိမ်တော်အား မုအ်မင်န်များ အထူးလေးစားသည်နှင့် စပ်လျဉ်း၍ ကြောင်းရင်းမှန်ကို မသိသူများ အထင်မှား အမြင်မှား မဖြစ်စေရန်အလို့ငှာ အိမ်တော်၏အကြောင်း မိန့်ဆိုတော်မူရာတွင် 'ရှရစ်က်' ယှဉ်တွဲကိုးကွယ်မှုကို လုံးဝ ရှောင်ကြဉ်ရမည့်အကြောင်း၊ အိမ်တော်သည် 'မအ်ဗဒ်' ကိုးကွယ်ရာဌာနသာ ဖြစ်ကြောင်း၊ 'မအ်ဗူဒ်' ကိုးကွယ်ရာအရှင် မဟုတ်ကြောင်း၊ အလ္လာဟ်အရှင်မြတ်၏ အိမ်တော်တွင် အလ္လာဟ်အရှင်မြတ်အားသာလျှင် ကိုးကွယ်ရမည်ဖြစ်ကြောင်း၊ အိမ်တော်သည် ကုဖ်ရ်၊ ရှရစ်က်၊ ပါပညစ်ကျူမကောင်းမှု အစုစုတို့မှ လုံးဝကင်းရှင်းရမည်ဖြစ်ကြောင်း အထူးတလည် မိန့်ဆိုသတိပေးထားတော်မူခြင်းဖြစ်သည်။

မုအ်မင်န်များသည် အိမ်တော်ကို အထူးရိုသေလေးစားကြသည်။ အိမ်တော်တွင် အလ္လာဟ်အရှင်မြတ်အား သာလျှင် ခဝပ်ကိုးကွယ်ကြသည်။ အိမ်တော်ကို ကိုးကွယ်ကြသည် အလျှင်းမဟုတ်။

ဤအာယတ်တော်တွင် သန့်ရှင်းစေရမည်ဟူသည် (Material & Spiritual) ရုပ်၊ နာမ် နှစ်မျိုးစလုံးနှင့် သက်ဆိုင်သည်။

① <u>ဟဂ်ျပြုရန် ကြွေးကြော်သံ</u>။

'ကအ်ဗဟ်' ကျောင်းတော်ကို ပြန်လည်မွမ်းမံ တည်ဆောက်ပြီးသောအခါ တမန်တော် အီဗ်ရာဟီမ်သည် အလ္လာဟ်အရှင်၏ အမိန့်တော်အရ တောင်ထိပ်သို့ တက်၍ "အို-လူသားအပေါင်းတို့၊ အလ္လာဟ်အရှင်မြတ်သည် အသင်တို့အပေါ်၌ 'ဟဂ်ျ' ပြုရန် ဖရသ္ဖ် သတ်မှတ်ပြဋ္ဌာန်း အတည်ပြုတော်မူလိုက်ပြီ၊ ဟဂ်ျပြုရန် လာကြကုန်လော့" ဟု ကြွေးကြော်ဖိတ်ခေါ်ခဲ့လေသည်။

ထိုအချိန်တွင် ကမ္ဘာ၌ တယ်လီဖုန်း၊ မိုက်ကရိုဖုန်း၊ လောက်ဒ်စပီကာ စသည့် ကိရိယာများ မထွန်းကားခဲ့သေးပေ။ သို့တစေလည်း အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်ဖြင့် တမန်တော် အီဗ်ရာဟီမ်၏ ကြွေးကြော်ဖိတ်ခေါ်သံသည် ကမ္ဘာအရပ်ရပ်သို့ ရောက်ရှိသွားခဲ့လေသည်။ သို့ဖိတ်ခေါ်လိုက်သည့်အခါ တက်ဒီရ် မှတ်တမ်းတော်တွင် ဟဂ်ျပြုရန် ရေးမှတ်ခြင်းခံရသော ပုဂ္ဂိုလ်အသီးသီးတို့၏ ရူဟ်ဝိညာဉ်များသည် 'လဗ်ဗိုက်' ထူးခဲ့ကြလေသည်။

ထိုသို့ 'လဗ်ဗိုက်' ထူးခဲ့သော ပုဂ္ဂိုလ်များသည် နှစ်စဉ်နှင့်အမျှ ကမ္ဘာ့အရပ်ရပ်မှ အစီးအနင်းများကို စီးနင်း၍တစ်မျိုး၊ ခြေကျင်နှင့်တစ်ဖုံ၊ ဒုက္ခမျိုးစုံခံ၍ ကျောင်းတော်ရှိရာသို့ ဟဂ်ျပြုရန် ရောက်ရှိလာကြပေသည်။ ဤသည် ကုရ်အာန်ကျမ်းမြတ်(၁၄:၃၇)တွင်လာရှိသည့် တမန်တော်အီဗ်ရာဟီမ်၏ ဆုမွန်၏အကျိုးပင်။ ➤➤

لِّيَشۡهَدُواْ مَنَٰفِعَ لَهُمۡ وَيَذۡكُرُواْ ٱسۡمَ ٱللَّهِ فِيٓ أَيَّامٖ مَّعۡلُومَٰتٍ عَلَىٰ مَا رَزَقَهُم مِّنۢ بَهِيمَةِ ٱلۡأَنۡعَٰمِۖ فَكُلُواْ مِنۡهَا وَأَطۡعِمُواْ ٱلۡبَآئِسَ ٱلۡفَقِيرَ ٢٨

၂၈။ မိမိတို့အဖို့ *အကျိုးကျေးဇူးရှိရာများသို့* [၁] ရောက်ရှိကြအံ့သောငှာလည်းကောင်း၊ အလ္လာဟ်အရှင်မြတ်၏နာမ်တော်ကို ထိုအရှင်မြတ်က မိမိတို့အား ချီးမြှင့် ပေးသနားတော်မူခဲ့သော *ခြေလေးချောင်း တိရစ္ဆာန်အပေါ်၌* [၂] သတ်မှတ်ထားသော နေ့ရက်များတွင် [၃] (ရွတ်ဖတ်) တသကြအံ့သောငှာလည်းကောင်း၊ ထို့နောက် (တမန်တော်မြတ်၏ တပည့်သားတို့၊) အသင်တို့သည်လည်း ယင်းတိရစ္ဆာန်များအနက်မှ မိမိတို့ ကိုယ်တိုင်လည်း စားသုံးကြလေကုန်။ မရှိ ဆင်းရဲသော ဒုက္ခိတများအားလည်း ကျွေးမွေးကြလေကုန်။ [၄]

---

➤➤ အချို့တဖ်စီရ် အဖွင့်ကျမ်းကြီးများတွင် ဖော်ပြထားသည်မှာ- ဟဂ္ဂျ်ပြုရန် ကမ္ဘာအဝှန်းသို့ ကြွေးကြော်ဖိတ်ခေါ်ရန် အမိန့်တော်ရရှိသောအခါ တမန်တော် အီဗ်ရာဟီမ်က "အရှင်မြတ်၊ ကျွန်တော်မျိုး၏ ဖိတ်ခေါ်သံကို ကမ္ဘာလူသားအားလုံးတို့၏ နားများသို့ ပေါက်ရောက်အောင် အသူပို့ဆောင်ပေးပါမည်နည်း" ဟုလျှောက်ထားရာ အလ္လာဟ်အရှင်မြတ်က "ငါ" ဟု ဖြေကြားတော်မူလိုက်လေသည်။

(၁) **ဟဂ္ဂျ်၏အကျိုးကျေးဇူးများ။**

ဤအာယတ်တော်တွင် လာရှိသော 'အကျိုးကျေးဇူးများ' ဟူသည် လောကုတ္တရာဆိုင်ရာ အကျိုးကျေးဇူးများကိုသာ ဆိုလိုသည်။

ဥပမာ- 'ဟဂ္ဂျ်'၊ 'အွန်မရဟ်' နှင့် အခြားဝတ်ပြုခြင်းများဖြင့် အလ္လာဟ်အရှင်မြတ်၏ နှစ်သက်မှုကို ရယူခြင်း၊ နာမ်လောကဆိုင်ရာ မြင့်မားသော အဆင့်အတန်းသို့ ရောက်ရှိခြင်းများပင်ဖြစ်သည်။ ဟဂ္ဂျ်တွင် ဤသည့်လောကုတ္တရာဆိုင်ရာ အကျိုးကျေးဇူးများသာ အဓိကဖြစ်သည်။ သို့တစေလည်း ကမ္ဘာအရပ်ရပ်မှ နှစ်စဉ်နှင့်အမျှ သိန်းပေါင်းများစွာသော မွတ်စ်လင်မ်တို့ တစ်နေရာ တစ်ဌာနတွင် ရည်ရွယ်ချက်တစ်ခုတည်း၊ တစ်စိတ်တစ်လက်တည်း၊ တစ်သွေးတည်း၊ တစ်သံတည်း၊ တစ်မိန့်တည်း၊ တစ်ဆင်တည်း၊ စုရုံးကြသည့် ဤကမ္ဘာ့မွတ်စ်လင်မ်သာသနာ့ ကုလသမဂ္ဂတွင် ဆက်ဆံရေး၊ ချစ်ကြည်ရေး၊ ဗဟုသုတ ဖလှယ်ရေး၊ လူမှုရေး၊ စီးပွားရေး၊ နိုင်ငံရေး စသည့်လောကီဆိုင်ရာ အကျိုးကျေးဇူးများသည် အဓိကမဟုတ်သော်လည်း အရိပ်ပမာ မကွဲကွာ ဖြစ်ထွန်းလျက်ရှိသည်ကိုကား အသူ ငြင်းနိုင်အံ့နည်း။

(၂) **ကုရ်ဗာနီ သားကောင်များ။**

ဤအာယတ်တော်တွင် အခြေလေးချောင်း တိရစ္ဆာန်များဟူသည် ကုရ်ဗာနီ သားကောင်များကို ဆိုလိုသည်။ ကုရ်ဗာနီသားကောင်များကား ကုလားအုတ်၊ နွား၊ သိုး၊ ဆိတ်များတည်း။ကြည့်-ထာနဝီ ၊မာဂျိဒီ။

**မှတ်ချက်။**

"ဗဟီမဟ်" ဟူသောပုဒ်သည် အခြေလေးချောင်း တိရစ္ဆာန်အားလုံးအဖို့ အသုံးပြုသောပုဒ် ➤➤

၂၉။ ထို့နောက် ၎င်းတို့သည် ကြေးညှော်ကို (သုတ်သင်) ပယ်ရှားကြရမည်။ [၁] ထို့ပြင် မိမိတို့၏ (တာဝန်များ) အဓိဋ္ဌာန်များကို ပြီးဆုံးအောင်ဆောင်ရွက်ကြရမည်။ ထိုမှတပါး ရှေးကျသောအိမ် [၂] (ကအ်ဗဟ်ကျောင်း)တော်ကို တွဝါဖ် လှည့်ကြရမည်ဖြစ်ချေသတည်း။

ثُمَّ لْيَقْضُوا تَفَثَهُمْ وَلْيُوفُوا نُذُورَهُمْ وَلْيَطَّوَّفُوا بِالْبَيْتِ الْعَتِيقِ ﴿٢٩﴾

---

➤➤ ဖြစ်ချေသည်။ "အန်အာမ်" ဟူသောပုဒ်မှာကား ကုလားအုတ်၊ နွား၊ သိုး၊ ဆိတ်(ဤတိရစ္ဆာန်)လေးမျိုးအဖို့သာ အသုံးပြုသောပုဒ် ဖြစ်ပေသည်။ ကြည့်-ထာနဝီ၊ အ-၇။ စ-၇၀။

(၇) **ကုရ်ဗာနီပြုရန် နေ့ရက်များ။**

ဤအာယတ်တော်တွင် သိပြီး နေ့ရက်များ၊ တစ်နည်း သတ်မှတ်ထားသော နေ့ရက်များကား အဘယ်နည်း၊ အချို့ကသတ်မှတ်ထားသော နေ့ရက်များဟူသည် ဇုလ်ဟဂ်ျဂျဟ် ပထမ(၁၀)ရက်ကို ဆိုလိုကြသည်။ အချို့က အဆိုပါသတ်မှတ်ထားသော နေ့ရက်များဟူသည် ကုရ်ဗာနီပြုလုပ်ရန် နေ့ရက်များ (ဝါ) ဇုလ်ဟဂ်ျဂျဟ်လ (၁၀၊ ၁၁၊ ၁၂) ရက်နေ့များကို ဆိုလိုကြသည်။

(၆) **ကုရ်ဗာနီသားကောင်၏ အသားစားပိုင်သည်။**

အတိတ်ခေတ် မုရ်ရှစ်ကျ်များသည် ကုရ်ဗာနီသားကောင်၏ အသားများကို မိမိတို့ကိုယ်တိုင် မစားသုံးအပ်ဟု ထင်မှတ်ခဲ့ကြသည်။ ဤသို့ထင်မှတ်ခြင်းသည် မှားသည်။ ထို့အတွက် ဤအာယတ်တော်တွင် 'ကုရ်ဗာနီသားကောင်၏ အသားများကို အသင်တို့သည် မိမိတို့ကိုယ်တိုင်လည်း စားသုံးကြ၊ မိတ်ဆွေများကိုလည်း ကျွေးမွေးကြ၊ ဒုက္ခသည် သူဆင်းရဲများအားလည်း ပေးကျွေးကြ'ဟု မိန့်ဆိုထားတော်မူခြင်းဖြစ်သည်။

(၁) ဟာဂျီများသည် "ဣဟ်ရာမ်" ဝတ်ရုံကို ဝတ်ရုံ၍ 'လဗ်ဗိုက်' ထူးသည့်အချိန်မှစပြီး ဆံလည်း မသကြတော့ပေ။ ခြေသည်း လက်သည်းများကိုလည်း မထိကြတော့ပေ။ ဆံများတွင် ဆီလည်း မထည့်ကြတော့ပေ။ ရေချိုးပြန်လျှင်လည်း သာမန်ပင် ရေချိုးကြပေတော့သည်။ ထို့အတွက် ဟာဂျီများသည် ဣဟ်ရာမ် ဝတ်ရုံထားသည့်အချိန်တွင် ဖုန်များလူးပေလျက် ဆံများ ရှုပ်လျက်ရှိကြပေသည်။ ထိုအချိန်တွင် ဟာဂျီများသည် တစ်ဆင်တည်း၊ တစ်သံတည်း၊ တစ်သွေးတည်းဖြင့် တစ်ဆုတည်းသော အလ္လာဟ်အရှင်မြတ်အား အခါခပ်သိမ်း အာရုံပြုလျက်၊ ချစ်ကြည်မြတ်နိုးလျက်၊ ရိုသေခန့်ညားလျက်၊ အလ္လာဟ်အရှင်မြတ်၌ နစ်မြုပ်လျက်ရှိကြကုန်သည်။ ဟာဂျီများ၏ အဆင်အသွင်ကား မြတ်နိုးဖွယ်ရာ ကောင်းလှပေတော့သည်။

ဟာဂျီများသည် ဖော်ပြပါအတိုင်း ဣဟ်ရာမ်၏ စည်းကမ်းနှင့်အညီ နေထိုင်လာကြပြီးနောက် ဇုလ်ဟဂ်ျဂျဟ်(၁၀)ရက်နေ့ ရောက်သောအခါ ကုရ်ဗာနီ ပြုလုပ်ကြရပေသည်။ ထို့နောက် ဣဟ်ရာမ်ကို ချွတ်လိုက်ကြပေသည်။ ဆံသကြပေသည်။ ခြေသည်း လက်သည်းများ တိကြပေသည်။ ရေချိုးကြပေသည်။ ဝတ်လေ့ရှိသော အဝတ်အထည်များကို ပြန်လည်ဝတ်ဆင်ကြပေသည်။ 'တွဝါဖ်ဇီယာရတ်' ပြုလုပ်ကြပေသည်။ [တွဝါဖ်ဇီယာရတ်သည် ဖရည်ဖြစ်သည်။] တွဝါဖ်ဇီယာရတ်ကို 'တွဝါဖ်ဣဖာသွဟ်' ဟု ခေါ်သည်။ အလ္လာဟ်အရှင်မြတ်ထံတော်၌ အဓိဋ္ဌာန်ပြုထားသော မန္နတ်၊ နဇ်ရ်များရှိက တာဝန်ကျေပွန်အောင် ဆောင်ရွက်ကြရပေသည်။ 

ذٰلِكَ وَمَنۡ يُّعَظِّمۡ حُرُمٰتِ اللّٰهِ فَهُوَ خَيۡرٌ لَّهٗ عِنۡدَ رَبِّهٖ ؕ وَاُحِلَّتۡ لَـكُمُ الۡاَنۡعَامُ اِلَّا مَا يُتۡلٰى عَلَيۡكُمۡ فَاجۡتَنِبُوا الرِّجۡسَ مِنَ الۡاَوۡثَانِ وَاجۡتَنِبُوۡا قَوۡلَ الزُّوۡرِ ۙ‏ ﴿۳۰﴾

၃၀။ (အမိန့်တော်သည်) ဤသည်ပင်၊ စင်စစ်သော်ကား မည်သူမဆို အလ္လာဟ်အရှင်မြတ်၏ ရိုသေအပ်သော *အမိန့်ပညတ်တော်များကို* [၁] ရိုသေခန့်ညားပါလျှင် ယင်းရိုသေခန့်ညားမှုသည် ထိုသူအဖို့ ၎င်းအား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်အထံတော်တွင် အကောင်းဆုံးပင် ဖြစ်ပေသည်။ စင်စစ်အသင်တို့ရှေ့ဝယ် *ဖတ်ကြား ဖော်ပြပြီးဖြစ်သော တိရစ္ဆာန်များမှတစ်ပါး* [၂] ကျန်ခြေလေးချောင်းတိရစ္ဆာန်များကိုအသင်တို့အဖို့ *"ဟလာလ်" တရားဝင်(စားသုံး)ခွင့်ပြုပြီးဖြစ်ချေသည်။* [၃] သို့ဖြစ်ပေရာ အသင်တို့သည် ဆင်းတုများတည်းဟူသော အညစ်အကြေးမှ ရှောင်ရှားကြလေကုန်။ ထိုမှတပါး အသင်တို့သည် *မုသားပြောဆိုခြင်းမှလည်း ကြည်ရှောင်ကြလေကုန်။* [၄]

---

➤➤ အချို့ပညာရှင်များ၏ ယူဆချက်အရ ဤအာယတ်တော်တွင် လာရှိသော 'နုဇူရ်' (နဇ်ရ်)ဟူသောပုဒ်သည် ဟဂ္ဂ်၏ "မနာစစ်က်" ကျင့်စဉ်ကျင့်ရပ်များ၊ "ဝါဂျိဗ်" တာဝန်များ၏ အနက်၌ဖြစ်သည်ဟူ၏။ ဤသည့်ယူဆချက်သည် ပိုမိုသင့်မြတ်ပေသည်။

(၂) "အတီက်"သည် ရှေးကျသောအရာကို ဆိုသည်။ အလ္လာဟ်အရှင်မြတ်၏ အိမ်တော်သည် အလွန့်အလွန် ရှေးကျခဲ့သည်မှာ အထင်အရှားပင်။ အိမ်တော်သည် အဘယ်မျှ ရှေးကျသည်ဆိုသော် အိမ်တော်တည်ရှိခဲ့သည့် အတိတ်ကို ရာဇဝင် သမိုင်းများသည်ပင် မေ့နေခဲ့ကြပေပြီ။

အချို့က "အတီက်"၏ အဓိပ္ပါယ်မှာ လွတ်မြောက်စေခြင်း ခံရသောအရာ၊ ကာကွယ်ထိန်းသိမ်းခြင်း ခံရသောအရာဟူ၍ ဖြစ်သည်ဟုဆိုကြသည်။ အလ္လာဟ်အရှင်မြတ်သည် အိမ်တော်အား ဖြိုခွင်းရန်လာသော အန္တရာယ်အပေါင်းတို့အား ချေမှုန်း၍ အိမ်တော်အား ကာကွယ်ထိန်းသိမ်း ထားတော်မူခဲ့ပေသည်။

(၁) "ဟုရုမာတ်" ဟူသည် အလ္လာဟ်အရှင်မြတ်၏ ရိုသေလေးစားမြတ်နိုးအပ်သော အမိန့်ပညတ်တော်အားလုံးကို ဆိုလိုသည်။ ထိုအမိန့်တော်များတွင် ဟဂ္ဂ်နှင့်ပတ်သက်သော အမိန့်ပညတ်တော်များ၊ ဟဂ္ဂ်နှင့် မပတ်သက်သော အမိန့်ပညတ်တော်များအားလုံး အကျုံးဝင်ပေသည်။ ထာနဝီ။

"ဟုရုမာတ်" (ဝါ)ရိုသေမြတ်နိုးအပ်သော အရာများတွင် အိမ်တော်၊ ဆွဖာ၊ မရ်ဝဟ်၊ မိနာ၊ ကုရ်ဗာနီ သားကောင်များ၊ ကုရ်အာန်၊ မတ်စ်ဂျိဒ်များ၊ ဤမျှမက အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်များအားလုံး အကျုံးဝင်သည်။ အထူးသဖြင့် ဤနေရာတွင် မတ်စ်ဂျိဒ်ဒေဟရာမ် ဗလီကျောင်းတော်နှင့် ကုရ်ဗာနီ သားကောင်များအား လေးစားရမည်ကို ရည်ညွှန်းထားတော်မူသည်။

ဆိုလိုသည်ကား အလ္လာဟ်အရှင်မြတ်အား ယုံကြည်ဆည်းကပ် ကိုးကွယ်ကြသော ➤➤

حُنَفَآءَ لِلّٰهِ غَيْرَ مُشْرِكِيْنَ بِهٖ ۚ وَمَنْ يُّشْرِكْ بِاللّٰهِ فَكَاَنَّمَا خَرَّ مِنَ السَّمَآءِ فَتَخْطَفُهُ الطَّيْرُ اَوْ تَهْوِيْ بِهِ الرِّيْحُ فِيْ مَكَانٍ سَحِيْقٍ ﴿٣١﴾

၃၁။ (တစ်ဆူတည်းသော) အလ္လာဟ်အရှင်မြတ်ဘက်သို့ တစ်စိတ်တစ်လက်တည်း လှည့်ကြလျက် (မည်သည့် တစ်စုံတစ်ရာကိုမျှပင်) ထိုအရှင်မြတ်နှင့် တွဲဖက် (နှိုင်းယှဉ် ကိုးကွယ်)သူများ မဖြစ်ကြဘဲ။ စင်စစ်သော်ကား မည်သူမဆို (တစ်စုံတစ်ရာကို) အလ္လာဟ်အရှင်မြတ်နှင့်တွဲဖက် (နှိုင်းယှဉ်ကိုးကွယ်) ပါလျှင် ထိုသူသည် မိုးကောင်းကင်မှ ကျလာဘိသကဲ့သို့ပင်၊ ထို့နောက် ၎င်းအား (အသေသားစားသော) ငှက်တိရစ္ဆာန်များက သုတ်ယူမည် ဖြစ်ပေသည်။ သို့တည်းမဟုတ် လေသည် ၎င်းအား ဝေးလံစွာသော နေရာသို့ (ပို့ဆောင်)ပစ်ချမည်ပင် ဖြစ်ချေသတည်း။

---

➤➤ မွတ်စ်လင်မ်တို့အား ဗလီကျောင်းတော်သို့ လာရောက်ခြင်းမှ ပိတ်ပင်မြစ်တားခြင်းအလျှင်းမပြုရ။ ကုရ်ဗာနီ ပြုလုပ်ရန်အတွက် ရောက်ရှိလာသော ကုရ်ဗာနီသားကောင် များကိုလည်း ဗလီကျောင်းတော်မှ ပြန်လွှတ်ခြင်း အလျှင်းမပြုရ။ (မွတ်စ်လင်မ်တို့အား ကျောင်းတော်သို့ လွတ်လပ်စွာ ဝင်ထွက်ခွင့်ပြုရမည်) အဖိုးတန်သော၊ ဝဖြိုးသော ကုရ်ဗာနီသားကောင်များကို လွတ်လပ်စွာ ကုရ်ဗာနီပြုခွင့်ပေးရမည်ဟူ၏။

② **<u>မစားသုံးအပ်သော အမျိုးအစား။</u>**

အထက်တွင် ကုလားအုတ်၊ နွား၊ သိုး၊ ဆိတ်တို့ကို စားသုံးပိုင်ခွင့်ရှိကြောင်း မိန့်ဆိုထားတော်မူသည်။ ယင်းတိရစ္ဆာန်များအနက် မစားသုံးအပ်သည့် အမျိုးအစားများကိုလည်း ကုရ်အာန်ကျမ်းမြတ်၌ပင် မိန့်ဆိုထားတော်မူပြီးဖြစ်သည်။ ကြည့်-ကုရ်အာန် (၂း၁၇၃။ ၅း၃။ ၆း၁၄၆)။

③ အထက်တွင် ကုရ်ဗာနီသားကောင်များကိုလည်း လေးစားရမည့်အကြောင်း ပါရှိသည်။ ယင်းလေးစားမှုနှင့် ယင်းသားကောင်များ ဇဗဟ်လီးဖြတ်စားသုံးမှုသည် မဆန့်ကျင်ပေ။ အဘယ်ကြောင့်ဆိုသော် အလ္လာဟ်အရှင်မြတ်၏ ခွင့်ပြုချက်ဖြင့် ထိုအရှင်မြတ်၏နာမ်တော်ကိုတသကာ ဇဗဟ်လီးဖြတ်စားသုံးခြင်းသာဖြစ်သည်။ ကြည့်-အွတ်ဆ်မာနီ။

④ **<u>မုသားကိုရှောင်။</u>**

'ဇူရ်' ဟူသောပုဒ်တွင် ရှရ်စ်က်ပြုခြင်း၊ မုသားပြောဆိုခြင်း၊ မုသားသက်သေ ထွက်ဆိုခြင်း၊ အလ္လာဟ်အရှင်မြတ် ဖန်ဆင်းထားတော်မူသော တိရစ္ဆာန်များကို ထိုအရှင်မြတ်မှတစ်ပါး အခြားသော မဟုတ်မမှန်သော ကိုးကွယ်ရာများအား ရည်စူးတသကာ လီးဖြတ်ခြင်း 'ဟလာလ်'ကို 'ဟရာမ်' ပြုလုပ်ခြင်း၊ 'ဟရာမ်'ကို 'ဟလာလ်' ပြုလုပ်ခြင်းများအားလုံးသည် အကျုံးဝင်ပေသည်။

ထိုမှတစ်ပါး သတိပြုအပ်သည်မှာ အလ္လာဟ်အရှင်မြတ်သည် 'ဇူရ်' ဟူသောပုဒ်ကို 'ရှရ်စ်က်'နှင့် ပူးတွဲသုံးနှုန်းထားတော်မူသည်။ ဤသည်ကို ထောက်ရှုခြင်းအားဖြင့် 'ဇူရ်'သည် အဘယ်မျှအပြစ်ကြီးလေးသည်ကို ကောင်းစွာသိနိုင်ပေသည်။ ကုရ်အာန်ကျမ်းမြတ်(၇း၃၃)တွင်လည်း ဤသည့်သဘောကို မိန့်ဆိုထားတော်မူသည်။

ذٰلِكَ وَمَنۡ يُّعَظِّمۡ شَعَآئِرَ اللّٰهِ فَاِنَّهَا مِنۡ تَقۡوَى الۡقُلُوۡبِ ﴿٣٢﴾

၃၂။ (အမိန့်တော်သည်)ဤသည်ပင်၊ စင်စစ်မူကား မည်သူမဆို *အလ္လာဟ်အရှင်မြတ်၏အထိမ်းအမှတ်တော်များကို* [၁] ရိုသေခန့်ညားပါလျှင် ယင်းရိုသေခန့်ညားမှုသည်စိတ်နှလုံးများမှရိုသေလိုက်နာမှုပင်ဖြစ်ပေသည်။

لَـكُمۡ فِيۡهَا مَنَافِعُ اِلٰٓى اَجَلٍ مُّسَمًّى ثُمَّ مَحِلُّهَاۤ اِلَى الۡبَيۡتِ الۡعَتِيۡقِ ﴿٣٣﴾

၃၃။ အသင်တို့အဖို့ သတ်မှတ်ထားသော အချိန်ကာလတိုင်အောင် ယင်းအထိမ်းအမှတ်တော်များ (ကုရ်ဗာနီ သားကောင်များ) အကျိုးခံစားခွင့် ရှိပေသည်။ ထို့နောက် ယင်းသားကောင်များ(ကို လှီးဖြတ်ရန်) နေရာကား ရှေးဟောင်းအိမ်တော်၏ အနီး၌ပင်ဖြစ်ချေသတည်း။ [၂]

---

(၁) **အလ္လာဟ်အရှင်မြတ်၏ အထိမ်းအမှတ်တော်များကို လေးစားရမည်သာ။**

"ရှအာအိရုလ္လာဟ်" ၏အဓိပ္ပါယ်မှာ "အလ္လာဟ်အရှင်မြတ်၏ အထိမ်းအမှတ်တော်များ" ဟူ၍ဖြစ်သည်။ ဤနေရာတွင် ကုရ်ဗာနီ သားကောင်များကို ဆိုလိုသည်။

အထက်တွင် အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်များကို ရိုသေလေးစား ခန့်ညားရမည့်အကြောင်း မိန့်ဆိုထားတော်မူသည်။ ဤအာယတ်တော်တွင် အလ္လာဟ်အရှင်မြတ်၏ အထိမ်းအမှတ်တော်တစ်ရပ် ဖြစ်သော ကုရ်ဗာနီသားကောင်များကိုလည်း လေးစားရမည့်အကြောင်း မိန့်ဆိုထားတော်မူသည်။

အထက်တွင် 'ရှရ်စ်က်' သည် အလွန့်အလွန် စက်ဆုပ်ရွံရှာဖွယ်ဖြစ်သည့် အကြောင်းကို အကြိမ်ကြိမ် မိန့်ဆိုထားတော်မူသည်။ ရှရ်စ်က်သည် အမှန်ပင် စက်ဆုပ်ရွံရှာဖွယ်ဖြစ်သည်။ အလ္လာဟ်အရှင်မြတ်မှတစ်ပါး အခြားမည်သည့်အရာကိုမျှ ကိုးကွယ်ရာအဖြစ် ဆည်းကပ်ကိုးကွယ်ခြင်း အလျှင်းမပြုအပ်။ အလ္လာဟ်အရှင်မြတ်မှ တစ်ပါး အခြားမည်သည့်အရာကိုမျှ ဆည်းကပ်ကိုးကွယ်ခြင်း အလျှင်းမပြုရဟု ဆိုရာ၌ ကိုးကွယ်ရာအဖြစ် ဆည်းကပ်ကိုးကွယ်ခြင်းကိုသာ လေးနက်စွာ ပိတ်ပင်တားမြစ်ထားတော် မူခြင်းဖြစ်သည်။ လေးစားအပ်သော အရာများကို မရိုသေရ၊ မလေးစားရဟူ၍ကား ဆိုလိုသည်မဟုတ်။ အထူးသဖြင့် အလ္လာဟ်အရှင်မြတ်၏ အထိမ်းအမှတ်တော်များ၊ ထိုအရှင်မြတ်နှင့် ဆက်စပ်လျက်ရှိသော အရာများကိုကား ရိုသေလေးစားရမည်သာ ဖြစ်သည်။ ယင်းသို့ လေးစားခြင်းသည် ဆည်းကပ်ကိုးကွယ်ခြင်းမဟုတ်၊ ရှရ်စ်က်မဟုတ်။ ဤသည် အလ္လာဟ် အရှင်မြတ်အား စိတ်အတွင်းမှနှစ်နှစ်ကာကာ ကြောက်ရွံ့ရိုသေ လေးစားခန့်ညားခြင်းပင်၊ အလ္လာဟ်အရှင်မြတ်အား ယုံကြည်မြတ်နိုးသူတစ်ဦးသည် ထိုအရှင်မြတ်နှင့် ဆက်စပ်လျက်ရှိသော အရာများကိုလည်း ချစ်ကြည်မြတ်နိုးမည်ပင်။

(၂) "ဟဒ်ယ်" ကုရ်ဗာနီသားကောင်အဖြစ် မသတ်မှတ်မီအချိန်အထိ ကုလားအုတ်၊ နွား၊ သိုး၊ ဆိတ်တို့မှ အကျိုးခံစားနိုင်ကြပေသည်။

ဥပမာ-ယင်းသည့် တိရစ္ဆာန်များကို အစီးအနင်းအဖြစ် အသုံးပြုနိုင်ကြပေသည်။ နို့ရည်များကို သောက်သုံးနိုင်ကြပေသည်။ အမွေးများကိုလည်း အသုံးပြုနိုင်ကြပေသည်။ သို့ရာတွင် 'ဟဒ်ယ်' ကုရ်ဗာနီ ➢➢

وَلِكُلِّ أُمَّةٍ جَعَلْنَا مَنسَكًا لِّيَذْكُرُوا اسْمَ اللَّهِ عَلَىٰ مَا رَزَقَهُم مِّن بَهِيمَةِ الْأَنْعَامِ ۗ فَإِلَٰهُكُمْ إِلَٰهٌ وَاحِدٌ فَلَهُ أَسْلِمُوا ۗ وَبَشِّرِ الْمُخْبِتِينَ ﴿٣٤﴾

၃၄။ စင်စစ် ငါအရှင်မြတ်သည် သာသနာဝင် အုပ်စုတိုင်းအဖို့ ၎င်းတို့သည် အလ္လာဟ်အရှင်မြတ်၏ နာမံတော်ကို ထိုအရှင်မြတ်က မိမိတို့အား ချီးမြှင့် ပေးသနားတော်မူခဲ့သော အခြေလေးချောင်းတိရစ္ဆာန် များအပေါ်၌ တသကြအံ့သောငှာ ကုရ်ဗာနီပြုခြင်းကို သတ်မှတ်ပြဋ္ဌာန်းတော်မူခဲ့၏။ ၁

စင်စစ်သော်ကား အသင်တို့၏ ကိုးကွယ်ရာ အရှင်သည်တစ်ဆူတည်းသော ကိုးကွယ်ရာအရှင်မြတ် ပင် ဖြစ်တော်မူ၏။ သို့ဖြစ်ပေရာ အသင်တို့သည် ထိုအရှင်မြတ်၏ အမိန့်တော်ကိုသာ လိုက်နာကြလေ ကုန်။ ထို့ပြင် (အို-နဗီတမန်တော်) အသင်သည် ကျိုးနွံသောသူတို့အား ဝမ်းမြောက်ဖွယ်ရာ သတင်း ကောင်းကို ပြောကြားပါလေ။

الَّذِينَ إِذَا ذُكِرَ اللَّهُ وَجِلَتْ قُلُوبُهُمْ وَالصَّابِرِينَ عَلَىٰ

၃၅။ အကြင် (ကျိုးနွံသော)သူတို့အား (၎င်းတို့ ရှေ့ဝယ်)အလ္လာဟ်အရှင်မြတ်နှင့်ပတ်သက်၍ ပြောဆိုခဲ့ သောအခါ ၎င်းတို့၏ စိတ်နှလုံးများသည် ထိတ်လန့် တုန်လှုပ်၍ သွားကြလေသည်။

---

➤➤ သားကောင်အဖြစ် သတ်မှတ်လိုက်ပြီးသည့် နောက်ပိုင်းတွင်မူ ကြီးမားသော အကြောင်းထူး တစ်စုံတစ်ရာ မရှိပါဘဲလျက် အကျိုးခံစားခြင်း မပြုနိုင်တော့ပေ။ "ဟဒ်ယ်" အဖြစ်သတ်မှတ်ပြီးသည်နောက်ပိုင်းတွင် ယင်းသည့် ကုရ်ဗာနီ သားကောင်များကို ဟရမ်အတွင်းသို့ ယူဆောင်သွားပြီး ကုရ်ဗာနီပြုလုပ်ရန်သာ ရှိပေတော့သည်။

(၁) **အတိတ်ခေတ် ရှရီအတ်တိုင်း၌ ကုရ်ဗာနီပါရှိသည်သာ။**

အတိတ်ခေတ် ကောင်းကင်ကျ 'ရှရီအတ်' တိုင်း၌ အလ္လာဟ်အရှင်မြတ် ချီးမြှင့်ထားတော်မူသော၊ သတ်မှတ်ထားသော တိရစ္ဆာန်များကို ထိုအရှင်မြတ်အား ရည်စူး၍ ထိုအရှင်မြတ်၏ နာမံတော်ကို တသကာ ကုရ်ဗာနီပြုလုပ်ရန် အမိန့်သည် တစ်နည်းမဟုတ်တစ်နည်း ပါရှိသည်သာဖြစ်သည်။

ဤသည် အစ္စလာမ်၏ အမိန့်သစ်မဟုတ်ပေ။ ဤသည့် ကုရ်ဗာနီကို အလ္လာဟ်အရှင်မြတ်အား ရည်စူး၍သာ ပြုလုပ်ရပေသည်။ ထိုအရှင်မြတ်မှတစ်ပါး အခြားတစ်စုံတစ်ရာကို ရည်စူး၍ ကုရ်ဗာနီ ပြုလုပ်ပါက "ရှိရ်က်" ဖြစ်သွားပေသည်။ ဤသည့်အချက်ကို "မုဝဟ်ဟိဒ်"များသည် အထူးသတိပြုကာ ရှောင်ကြဉ်ကြရာသည်။

အတိတ်ခေတ် ကျမ်းဂန်ရရှိသော အစ္စရာအီလီမျိုးနွယ်ဝင်တို့၏ သာသနာတွင် ကုရ်ဗာနီသည် သာသနာ့ မဏ္ဍိုင်တစ်ခုပင် ဖြစ်ခဲ့ပေသည်။

مَآ أَصَابَهُمْ وَالْمُقِيمِي الصَّلَوٰةِ وَمِمَّا رَزَقْنَٰهُمْ يُنفِقُونَ ﴿٣٥﴾

ထို့ပြင် (အသင်သည်) မိမိတို့၌ သက်ရောက်သော ဘေးဒုက္ခများနှင့်စပ်လျဉ်း၍ သည်းခံခြင်းတရားထားရှိကြသောသူတို့အားလည်းကောင်း၊ ဆွလာတ်ဝတ်ပြုမှုကို အမြဲမပြတ် ဆောက်တည်ကြသောသူတို့အားလည်းကောင်း၊ မိမိတို့အား ငါအရှင်မြတ်က ချီးမြှင့်ပေးသနားတော်မူခဲ့သော ပစ္စည်းဥစ္စာများအနက်မှ လှူဒါန်း သုံးစွဲကြသောသူတို့အားလည်းကောင်း၊ (သတင်းကောင်းကို ပြောကြားပါလေ။)

وَالْبُدْنَ جَعَلْنَٰهَا لَكُم مِّن شَعَٰٓئِرِ اللَّهِ لَكُمْ فِيهَا خَيْرٌ ۖ فَاذْكُرُوا اسْمَ اللَّهِ عَلَيْهَا صَوَآفَّ ۖ فَإِذَا وَجَبَتْ جُنُوبُهَا فَكُلُوا مِنْهَا وَأَطْعِمُوا الْقَانِعَ وَالْمُعْتَرَّ ۚ كَذَٰلِكَ سَخَّرْنَٰهَا لَكُمْ لَعَلَّكُمْ تَشْكُرُونَ ﴿٣٦﴾

၃၆။ စင်စစ် ငါ အရှင်မြတ်သည် ကုရ်ဗာနီကုလားအုတ်များကို အသင်တို့အဖို့ အလ္လာဟ်အရှင်မြတ်၏(သာသနာ့)အထိမ်းအမှတ်များအနက် အထိမ်းအမှတ်တစ်ရပ် ပြုလုပ်တော်မူခဲ့၏။ အသင်တို့အဖို့ ယင်းကုရ်ဗာနီကုလားအုတ်များတွင် ကောင်းကျိုးသည်ရှိပေသည်။ သို့ဖြစ်ပေရာ အသင်တို့သည် ယင်းကုရ်ဗာနီ ကုလားအုတ်များအပေါ်ဝယ် (၎င်းတို့အား) စီတန်းရပ်စေလျက်အလ္လာဟ်အရှင်မြတ်၏ နာမံတော်ကိုရွတ်ဆိုတသ(၍ ကုရ်ဗာနီပြုလုပ်)ကြလေကုန်။[၁] ထို့နောက် ယင်းကုရ်ဗာနီကုလားအုတ်များသည် ဘေးစောင်းလဲကျသွားကြလေသောအခါ အသင်တို့သည် ၎င်းတို့(၏ အသား)အနက်မှ မိမိတို့ ကိုယ်တိုင်လည်း စားသုံးကြလေကုန်။ (လက်ဖြန့် တောင်းခံခြင်းမပြုဘဲ) ရောင့်ရဲတင်းတိမ်(မှုဖြင့် သိက္ခာစောင့်စည်း)သူအားလည်းကောင်း၊ (သိက္ခာ မစောင့်စည်းနိုင်ဘဲ ဖွင့်ဟ) တောင်းရမ်းသူအားလည်းကောင်း၊ ကျွေးမွေးကြလေကုန်။

(၁) အထက်တွင် အလ္လာဟ်အရှင်မြတ်၏ အထိမ်းအမှတ်များ၏ အကြောင်းကို ယေဘုယျအားဖြင့် မိန့်ဆိုထားတော်မူသည်။ ယခု ဤအာယတ်တော်တွင် ကုရ်ဗာနီ သားကောင်များသည်လည်း အလ္လာဟ်အရှင်မြတ်၏ အထိမ်းအမှတ်တော်များတွင် အပါအဝင်ဖြစ်ကြောင်း ယင်းသည့် ကုရ်ဗာနီသားကောင်များတွင် လောကီ လောကုတ္တရာ ➤➤

ဤနည်းအတိုင်းပင် ငါအရှင်မြတ်သည်အသင်တို့ ကျေးဇူးတင်အံ့သောငှာ ယင်းကုရ်ဗာနီကုလားအုတ်များကို အသင်တို့၏ လက်အောက်ခံဖြစ်စေတော်မူခဲ့ပေသတည်း။

لَنْ يَّنَالَ اللّٰهَ لُحُوْمُهَا وَلَا دِمَآؤُهَا وَلٰكِنْ يَّنَالُهُ التَّقْوٰى مِنْكُمْ ۗ كَذٰلِكَ سَخَّرَهَا لَكُمْ لِتُكَبِّرُوا اللّٰهَ عَلٰى مَا هَدٰىكُمْ ۗ وَبَشِّرِ الْمُحْسِنِيْنَ ﴿٣٧﴾

၃၇။ အလ္လာဟ်အရှင်မြတ် အထံတော်သို့ ယင်းကုရ်ဗာနီသားကောင်တို့၏ အသားများသည် အလျင်းရောက်ရှိသည်မဟုတ်ပေ။ ထိုနည်းတူစွာယင်းကုရ်ဗာနီသားကောင်တို့၏ အသွေးများသည်လည်း အလျင်းရောက်ရှိသည်မဟုတ်ပေ။ စင်စစ် အသင်တို့၏ ရိုသေလေးမြတ်မှု၊ အမိန့်တော်ကို ရိုသေလိုက်နာမှု၊ ကောင်းမြတ်သော အကျင့်သီလသည်သာလျှင် ထိုအရှင်မြတ်အထံတော်သို့ ရောက်ရှိပေသည်။ ၁

ဤနည်းနှင်နှင် အသင်တို့သည်မိမိတို့အားတရား လမ်းမှန်ကို ညွှန်ပြတော် မူသောကြောင့် အလ္လာဟ်အရှင်မြတ် ကြီးမြတ်တော်မူကြောင်း ရွတ်ဆိုချီးကျူးကြအံ့သောငှာ ထိုအရှင်မြတ်သည် ယင်းကုရ်ဗာနီ သားကောင်များကို အသင်တို့၏ လက်အောက်ခံများ ပြုလုပ်ထားတော်မူပေသည်။ (အို-နဗီတမန်တော်၊) အသင်သည် စေတနာဖြူစင်သောသူတို့အား ဝမ်းမြောက်ဖွယ် သတင်းကောင်းကိုပြောကြားပါလေ။

➤➤ အကျိုးကျေးဇူးများရှိကြောင်း၊ ကုရ်ဗာနီသားကောင်များကို တရားတော်နှင့် အလ္လာဟ်အရှင်မြတ်၏ နာမ်တော်ကို ရွတ်ဆိုတသကာ ကုရ်ဗာနီ ပြုလုပ်ကြရမည့်အကြောင်း၊ အထူးသဖြင့် ကုလားအုတ်များကို ကုရ်ဗာနီပြုလုပ်ရာတွင် 'ကိဗ်လဟ်' ဘက်သို့ မျက်နှာမူစေလျက် စီတန်းမတ်တတ်ရပ်စေပြီး ညာသို့မဟုတ် ဘယ်လက်များကို တုပ်နှောင်ကာ ကုရ်ဗာနီပြုလုပ်ကြရမည့်အကြောင်း မိန့်ဆိုထားတော်မူသည်။

(၁) **ကုရ်ဗာနီ၏ သဘောတရား။**

အလ္လာဟ်အရှင်မြတ်သည် ဤအာယတ်တော်တွင် ကုရ်ဗာနီ၏ (Philosophy) သဘောတရားကို မိန့်ဆိုထားတော်မူသည်။ ဆိုလိုသည်ကား သားကောင်များကို လှီးဖြတ်၍ အသားများကို မိမိတို့ကိုယ်တိုင် ➤➤

إِنَّ ٱللَّهَ يُدَٰفِعُ عَنِ ٱلَّذِينَ ءَامَنُوٓاْ ۗ إِنَّ ٱللَّهَ لَا يُحِبُّ كُلَّ خَوَّانٍ كَفُورٍ ﴿٣٨﴾

၃၈။ ဧကန်မလွဲအလ္လာဟ်အရှင်မြတ်သည် မုအ်မင်န် သက်ဝင်ယုံကြည်သောသူတို့မှ (မုရှိရစ်က်တို့၏ ဘေး အန္တရာယ်များကို) တွန်းလှန်ပယ်ရှားတော်မူမည်။ ¹ [(တစ်နည်း) မုအ်မင်န် သက်ဝင်ယုံကြည်သောသူတို့ ဘက်မှ (မုရှိရစ်က်တို့၏ ဘေးအန္တရာယ်များကို) ခုခံကာကွယ်တော်မူမည်။] ဧကန်အမှန် အလ္လာဟ် အရှင်မြတ်သည် မည်သည့်သွေဖည်ငြင်းပယ်သော သစ္စာသွေသူကိုမျှ နှစ်သက်တော်မူသည်မဟုတ်ပေ။

---

➤➤ စားသုံးရုံမျှဖြင့်သော်လည်းကောင်း၊ သူတစ်ပါးတို့အား ဝေငှ ကျွေးမွေးရုံမျှဖြင့်သော်လည်းကောင်း၊ သားကောင်များ၏ သွေးများကို သွန်းရုံမျှဖြင့်သော်လည်းကောင်း၊ အလ္လာဟ်အရှင်မြတ်၏ နှစ်သက်တော်မူခြင်းကို မည်သည့်အခါ၌မျှ အလျှင်း ခံစားနိုင်ကြမည် မဟုတ်ပေ။

ဤသည့်အသားများနှင့် သွေးများသည်လည်း အလ္လာဟ်အရှင်မြတ်၏ထံတော်ပါးသို့ အလျှင်း ရောက်ရှိသည် မဟုတ်ပေ။

ထိုအရှင်မြတ်၏ ထံတော်ပါးသို့မူ ထိုအရှင်မြတ်အား ချစ်ကြည်မြတ်နိုးသောအားဖြင့် အဖိုးထိုက်တန်သော၊ နှစ်လိုဖွယ်ဖြစ်သော ပစ္စည်းများကို ထိုအရှင်မြတ်၏ အမိန့်တော်အရ ထိုအရှင်မြတ်အား ရည်စူးလျက် ထိုအရှင်မြတ်၏ အိမ်တော်ပါးသို့ ယူဆောင်ပြီးလျှင်၊ ထိုအရှင်မြတ်၏ နာမ်တော်ကို ရွတ်ဆိုတသကာ ကြည်ဖြူစွာ ကုရ်ဗာနီ ပြုလုပ်ကြရန် စေ့ဆော်သည့် "တာက္ကဝါ" ရှိသေလေးစား ခန့်ညားမှုတည်းဟူသော ထက်သန်လှသည့် စေတနာ သဒ္ဓါတရားသည်သာလျှင် (ထိုအရှင်မြတ် ထံတော်ပါးသို့) ရောက်ရှိသွားပေသည်။

တစ်နည်းအားဖြင့် ကုရ်ဗာနီပြုလုပ်သောသူများသည် သားကောင်များကို ကုရ်ဗာနီပြုလုပ်ပြီး "မိမိတို့သည်လည်း ဤအတိုင်းပင် အလ္လာဟ်အရှင်မြတ်၏ လမ်းတော်၌ "ကုရ်ဗာနီ" ဖြစ်ရန်၊ စွန့်ခြင်းကြီး စွန့်ရန် အသင့်ရှိကြပါသည်"ဟု ထုတ်ဖော်ပြလိုက်ခြင်း ပင်ဖြစ်သည်။

ကုရ်အာန်ကျမ်းမြတ်(၂၂း၃၂)တွင် ( وَمَن يُعَظِّمْ شَعَٰٓئِرَ ٱللَّهِ فَإِنَّهَا مِن تَقْوَى ٱلْقُلُوبِ ) ဟု လာရှိသော "တာက္ကဝါ" ကား အခြားမဟုတ်၊ ဤသည်ပင်။ ဤသည့် "တာက္ကဝါ"တရားဖြင့်သာလျှင် အလ္လာဟ်အရှင်မြတ်အား ချစ်ကြည်မြတ်နိုးသူတစ်ဦးသည် ထိုအရှင်မြတ်၏ စစ်မှန်သော ချစ်ကြည်မြတ်နိုးတော်မူခြင်းကို အမှန် ခံစားနိုင်ပေသည်။

**(၁) အလ္လာဟ်အရှင်မြတ်သည် မုအ်မင်န်တို့အား ကာကွယ်တော်မူမည်သာ။**

ကုရ်အာန်(၂၂း၂၅)တွင် မုအ်မင်န်တို့အား ကျောင်းတော်ကို ဖူးမျှော်ခြင်း၊ ဟဂ်ျပြုခြင်း အွမ်ရဟ်ပြုခြင်း စသည်တို့မှာ ကာဖိရ်များအား ပိတ်ပင်တားဆီးခဲ့ကြသည့် အကြောင်းကို မိန့်ဆိုထားတော်မူသည်။ ထို့နောက် အာယတ်တော်များတွင် ကျောင်းတော်နှင့်စပ်လျဉ်း၍ စောင့်စည်းအပ်သည့် အမိန့်ပညတ်တော်များနှင့် ရှိသေလေးစားအပ်သည်များကို မိန့်ဆိုထားတော်မူသည်။ ယခု ဤအာယတ်တော်တွင် ယခင်အကြောင်းကိုပင် ဖြည့်စွက်မိန့်ဆိုထားတော် မူသည်မှာ အလ္လာဟ်အရှင်မြတ်သည် မကြာမီအတွင်း ကာဖိရ်များ၏ ဘေးရန်များကို➤➤

أُذِنَ لِلَّذِينَ يُقَٰتَلُونَ بِأَنَّهُمْ
ظُلِمُوا۟ ۚ وَإِنَّ ٱللَّهَ عَلَىٰ نَصْرِهِمْ
لَقَدِيرٌ ﴿٣٩﴾

၃၉။ (ယခုသော်) တိုက်ခိုက်ခြင်းခံနေကြရသော (မွတ်စ်လင်မ်)တို့သည် (ခုခံတိုက်ခိုက်)ခွင့် ရရှိလေပြီ။ အကြောင်းမူကား၊ ၎င်းတို့သည် နှိပ်စက်ညှဉ်းပန်းခြင်းကို ခံခဲ့ကြရလေသည်။ ၎င်းပြင် ဧကန်မလွဲ အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့အား ကူညီစောင်မနိုင်စွမ်း ရှိတော်မူသောအရှင်မြတ်ပင် ဖြစ်တော်မူပေသည်။

ٱلَّذِينَ أُخْرِجُوا۟ مِن دِيَٰرِهِم
بِغَيْرِ حَقٍّ إِلَّآ أَن يَقُولُوا۟ رَبُّنَا
ٱللَّهُ ۗ وَلَوْلَا دَفْعُ ٱللَّهِ ٱلنَّاسَ
بَعْضَهُم بِبَعْضٍ لَّهُدِّمَتْ
صَوَٰمِعُ وَبِيَعٌ وَصَلَوَٰتٌ
وَمَسَٰجِدُ يُذْكَرُ فِيهَا ٱسْمُ ٱللَّهِ
كَثِيرًا ۗ وَلَيَنصُرَنَّ ٱللَّهُ مَن
يَنصُرُهُۥٓ ۗ إِنَّ ٱللَّهَ لَقَوِىٌّ عَزِيزٌ ﴿٤٠﴾

၄၀။ အကြင်သူသည် ကျွန်ုပ်အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်ကား အလ္လာဟ်အရှင်မြတ်ပင် ဖြစ်တော်မူသည်ဟု ပြောဆိုကြခြင်းမှတစ်ပါး (မည်သည့်အကြောင်းမျှမရှိဘဲ) မတရားသဖြင့် မိမိတို့နေအိမ်များမှ နှင်ထုတ်ခြင်းကို ခံခဲ့ကြရရှာလေသည်။

စင်စစ်သော်ကား အကယ်၍သာ အလ္လာဟ်အရှင်မြတ်သည်လူတို့အားတစ်ဦးကိုတစ်ဦးဖြင့် ကာကွယ်တော်မူခြင်းမရှိပါမူ ခရစ်ယာန်ဘုန်းတော်ကြီးကျောင်းများသည်လည်းကောင်း၊ ခရစ်ယာန် ဝတ်ကျောင်းများသည်လည်းကောင်း၊ ယဟူဒီဝတ်ကျောင်းများသည်လည်းကောင်း၊ အလ္လာဟ်အရှင်မြတ်၏ နာမံတော်များကို များပြားစွာ ရွတ်ဆိုလျက် ရှိသော မွတ်စ်လင်မ်တို့၏ ဗလီဝတ်ကျောင်းများသည် လည်းကောင်း၊ ဖြိုဖျက်ခြင်းခံကြရမည်အမှန်ပင်။

---

➤➤ ဖယ်ရှားပစ်တော်မူမည်ဖြစ်ကြောင်း၊ မွတ်စ်လင်မ်တို့သည် ကျောင်းတော်သို့ အေးချမ်းသာယာစွာ သွားရောက်ကြပြီး ဟဇ်ျအွမ်ရဟ်နှင့် စပ်လျဉ်းသည့် တာဝန်အရပ်ရပ်ကို လွတ်လပ်စွာ ဆောင်ရွက်နိုင်ကြတော့မည် ဖြစ်ကြောင်း၊ အလ္လာဟ်အရှင်မြတ်သည် သစ္စာဖောက်သူများနှင့် ကျေးဇူးကန်းသူများကို အလျှင်း နှစ်သက်တော်မူသည် မဟုတ်ကြောင်းများကို မိန့်ဆိုထားတော်မူသည်။

ဤအကြောင်းနှင့် ဆက်စပ်၍ ကုရ်အာန် (၃၇း၁၇၂-၁၇၃။ ၄၀း၅၁။ ၆၁း၁၃။) ကို ဆင်ခြင်ပါကုန်။

အမှန်စင်စစ် အလ္လာဟ်အရှင်မြတ်သည် ထို အရှင်မြတ်အား ကူညီသောသူကို မုချကူညီတော်မူမည် ဖြစ်ပေသည်။ ဧကန်မလွဲ အလ္လာဟ်အရှင်မြတ်သည် အင်အားပြည့်စုံတော်မူသောအရှင်၊ တန်ခိုးအာနုဘော် ဖြင့် လွှမ်းမိုးတော်မူသော အရှင်မြတ်ပင် ဖြစ်တော် မူပေသတည်း။ [၁]

---

(၁) **ခုခံကာကွယ်တိုက်ခိုက်ကာကွယ်ရန် မွတ်စ်လင်မ်တို့အား ပထမအကြိမ် ခွင့်ပြုတော်မူခြင်း။**

အစ္စလာမ်သာသနာ ထွန်းကားခါစအချိန်တွင် မက္ကာမြို့သား ကာဖိရ်၊ မုရှ်ရစ်က်များသည် မွတ်စ်လင်မ်တို့အား အမျိုးမျိုးညှဉ်းပန်း နှိပ်စက်ခဲ့ကြလေသည်။ မွတ်စ်လင်မ်တို့သည်လည်း အလ္လာဟ်အရှင်မြတ်၏ လမ်းတော်၌ တွေ့ကြုံခံစားကြရသော နှိပ်စက်မှု အစုစုတို့ကို သည်းခံ၍ပင် နေခဲ့ကြလေသည်။ ထိုအချိန်အထိ မွတ်စ်လင်မ်များသည် ရန်သူများအား ခုခံကာကွယ်တိုက်ခိုက်ရန် အခွင့်သည် မရရှိခဲ့ကြသေးပေ။ နောက်ဆုံးတွင် အလ္လာဟ်အရှင်မြတ်သည် ကာဖိရ်များကို ခုခံကာကွယ်တိုက်ခိုက်ရန် မွတ်စ်လင်မ်တို့အား ခွင့်ပြုတော်မူလိုက်လေသည်။ ပြန်လည်တိုက်ခိုက်ရန် ခွင့်ပြုတော်မူရာတွင် ဤအာယတ်တော်သည် ပထမဦးဆုံး ကျရောက်လာခဲ့သော အာယတ်တော်ပင် ဖြစ်သည်။

မက္ကာမြို့သားကာဖိရ်များက မွတ်စ်လင်မ်တို့အား ယင်းကဲ့သို့ နှိပ်စက်ကလူ ပြုခဲ့ကြခြင်းမှာ မွတ်စ်လင်မ် တို့၌ အပြစ်တစ်စုံတစ်ရာရှိ၍ မဟုတ်ခဲ့ပေ။ မွတ်စ်လင်မ်များသည် တိုင်းပြည်တွင် ဆူပူသောင်းကျန်းသူများလည်း မဟုတ်ခဲ့ပေ၊ ခိုးဝှက် လုယက်သူများလည်း မဟုတ်ခဲ့ကြပေ။ ကာဖိရ်များထံ၌ မွတ်စ်လင်မ်တို့၏ တစ်ခုတည်းသော အပြစ်မှာ ၎င်းတို့ ဘိုး၊ဘေး၊ အစဉ်အဆက်မှာ ဆည်းကပ်ကိုးကွယ်လာခဲ့ကြ သော မိရိုးဖလာ ဆင်းတုကိုးကွယ်မှုကို မွတ်စ်လင်မ်တို့သည် သွေဖည်ဆန့်ကျင်၍ တစ်ဆူတည်းသော အလ္လာဟ်အရှင်မြတ်အား သာ ဆည်းကပ်ကိုးကွယ် ကြခြင်းပင်ဖြစ်သည်။ ကြည့်-ကုရ်အာန် (၇:၁၂၆။ ၆၀:၁။ ၈၅:၈)။

**"ဂျိဟာဒ်" ၏ သဘောတရား။**

လူ့လောကတွင် တိုင်းပြည်တစ်ပြည်၊ လူမျိုးတစ်မျိုး၊ အုပ်စုတစ်စု၊ အဖွဲ့တစ်ဖွဲ့၊ တစ်ဦးတစ်ယောက်သည် မိမိတိုင်းပြည်၊ မိမိလူမျိုး၊ မိမိအုပ်စု၊ မိမိအဖွဲ့၊ မိမိ၏ ရပ်တည်မှုအတွက် မိမိအား ကျူးကျော်စော်ကားလာသော အင်အားစုကို ခုခံကာကွယ် တွန်းလှန်တိုက်ခိုက်ပိုင်ခွင့်လည်း ရှိပေသည်။ ဤသည် အလ္လာဟ်အရှင်မြတ်၏ စုန္နတ်တော်ပင်။ ကမ္ဘာ့အိမ်ထောင်စုကြီးမှာလည်း ဤအတိုင်းပင် ရပ်တည်လျက်ရှိပေသည်။

အကယ်၍ ဤသို့သာ ခုခံပိုင်ခွင့် မရှိပါက အလ္လာဟ်အရှင်မြတ်သည် လူတော် လူကောင်းများအား ကူညီတော်မမူပါက၊ လူဆိုးလူယုတ်မာများနှင့် ခုခံတိုက်ခိုက်စေပြီး လူတော်လူကောင်းများအား လွှမ်းမိုးစေတော်မမူပါက လူ့လောကတွင် လူကောင်းဟူ၍ တစ်ဦးတစ်ယောက်ကိုမျှ တွေ့ရှိရတော့မည်မဟုတ်ပေ။ အဘယ်ကြောင့်ဆိုသော် ခေတ်တိုင်းလိုလိုတွင် လူဆိုးများ၊သူယုတ်မာများသည် လူတော်လူကောင်းများနှင့် နှိုင်းယှဉ်လျှင် အရေအတွက်အားဖြင့် များကြသည်သာဖြစ်သည်။ ၎င်းတို့အား လျစ်လျူ ရှုထားပါက ၎င်းတို့သည် လူ့လောကတွင် ဆူပူ သောင်းကျန်း ကြပေမည်။ လွတ်လပ်စွာ ဆိုးမိုက် နိုင်ကြရန်အတွက် လူတော် လူကောင်းများအား အမျိုးမျိုး နှိပ်စက် ညှဉ်းပမ်း ကြပေမည်။ ချေမှုန်း ကြပေမည်။ သာသနာ့ အဆောက်အအုံများ၊ ကျောင်းများ၊ ➤➤

الَّذِيْنَ إِنْ مَّكَّنّٰهُمْ فِى الْأَرْضِ أَقَامُوا الصَّلٰوةَ وَاٰتَوُا الزَّكٰوةَ وَأَمَرُوْا بِالْمَعْرُوْفِ وَنَهَوْا عَنِ الْمُنْكَرِ ۗ وَلِلّٰهِ عَاقِبَةُ الْأُمُوْرِ ﴿٤١﴾

၄၁။ အကြင်သူတို့သည် အကယ်၍ ငါအရှင်မြတ်သည် ထိုသူတို့အား ကမ္ဘာမြေဝယ် လွှမ်းမိုးအုပ်စိုးမှုကို ပေးတော်မူခဲ့ပါလျှင် ၎င်းတို့သည် ဆွလာတ်ဝတ်ပြုမှုကို ဆောက်တည်ကြပေမည်။ ၎င်းပြင် ဇကာတ်ကိုလည်း ပေးဆပ်ကြပေမည်။ ကောင်းမြတ်သော ကိစ္စများကိုလည်း အမိန့်ပေးကြပေမည်။ မကောင်းမှုများမှလည်း တားမြစ်ကြပေမည်။ အမှန်သော်ကား အရေးကိစ္စ (အလုံးစုံ)တို့၏ နောက်ဆုံးအကျိုးသည် အလ္လာဟ် အရှင်မြတ်အထံတော်၌သာ ရှိပေသည်။ ၁

---

➤➤ ရှိသေမြတ်နိုးအပ်သော သာသနာ့အထိမ်းအမှတ်များကို ဖြိုဖျက်ကြပေမည်။

ထို့အတွက်ကြောင့်ပင် လူ့လောကတွင် ဆိုးသွမ်း၊ သောင်းကျန်းသော လူ့အဆောက်အအုံကို ဖျက်ဆီးသော အင်အားစုများကို အဘယ်မျှပင် များပြားလင့်ကစား တစ်ချိန်တွင် အလ္လာဟ်အရှင်မြတ်သည် လူတော်လူကောင်းတို့၏ လက်ချက်ဖြင့်ပင် တွန်းလှန်ချေမှုန်းပစ်တော်မူသည်သာဖြစ်သည်။

① **မွတ်စ်လင်မ်တို့၏ဂုဏ်ရည်။**

အထက်တွင် မတရားသဖြင့် အနှိပ်စက်ခံခဲ့ကြရသော မိမိတို့၏ မြို့၊ ရွာ များမှ နှင်ထုတ်ခြင်းခံခဲ့ကြရသော မွတ်စ်လင်မ်တို့၏အကြောင်း၊ ရန်သူများကို ခုခံတိုက်ခိုက်ရန် မွတ်စ်လင်မ်တို့အား အလ္လာဟ်အရှင်မြတ်က ခွင့်ပြုတော်မူသည့်အကြောင်း၊ ယင်း မွတ်စ်လင်မ်တို့အား ကူညီတော်မူမည့်အကြောင်းများ ပါရှိ၏။

ယခုဤအာယတ်တော်တွင် ယင်းမွတ်စ်လင်မ်များ၏ ဂုဏ်ရည်များကို မိန့်ဆိုထားတော်မူသည်မှာ– အကယ်၍ အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့အား ကမ္ဘာမြေတွင် စိုးမိုးအုပ်ချုပ်မှုအာဏာကို အပ်နှင်းတော်မူပါက ၎င်းတို့သည် အာဏာမာန် တက်ကြွကြမည်မဟုတ်၊ အာဏာကို အလွဲသုံးစားပြုလုပ်ကြမည်မဟုတ်၊ အာဏာရူးရူးကြမည်မဟုတ်၊ အလ္လာဟ်အရှင်မြတ်အား မေ့ကြမည်မဟုတ်၊ ၎င်းတို့ စနစ်တကျ ဆွလာတ်ဝတ်ပြုကြပေမည်။ ဇကာတ်ပေးကြမည်။ သူတစ်ပါးတို့အား ကောင်းရာကို ညွှန်ကြားကြမည်၊ မကောင်းရာမှ မြစ်တားကြပေမည်။ ဆိုလိုသည်ကား မိမိကိုယ်တိုင်လည်း အစ္စလာမ်၏ အဆုံးအမများကို လိုက်နာကျင့်သုံးကြပေမည်။ မိမိတို့ကိုယ်တိုင်လည်း လူတော်လူကောင်း ဖြစ်ကြပေမည်၊ တိုင်းသူပြည်သား လူအများတို့အားလည်း လူတော်လူကောင်းများဖြစ်အောင် စီမံကွပ်ကဲအုပ်ချုပ်ကြပေမည်။

အလ္လာဟ်အရှင်မြတ်သည် မိမိကတိတော်အတိုင်း ယင်းသို့သော ဂုဏ်ရည်များနှင့် ပြည့်စုံသော မွတ်စ်လင်မ်တို့အား စိုးမိုးအုပ်ချုပ်မှု အာဏာကို အပ်နှင်းတော်မူခဲ့လေသည်။ မွတ်စ်လင်မ်တို့သည်လည်း၊ မွတ်စ်လင်မ်ပီပီ မိမိတို့၏ ဂုဏ်ရည်များနှင့်အညီ စံမတူအောင် တရားသဖြင့် စီမံအုပ်ချုပ်နိုင်ခဲ့ကြပေသည်။ ဤကား အစ္စလာမ်သမိုင်းတွင် အထင်အရှားပင်။ ဤသည့်အာယတ်တော်ကို ထောက်ရှုခြင်းအားဖြင့် (ဆွဟာဗဟ်) သာဝကကြီးများ၊ မုဟာဂျီရ်များ၊ အထူးသဖြင့် (ခလီဖဟ်)သမ္မတကြီးလေးပါးတို့၏ မြင့်မြတ်မှုကို ကောင်းစွာသိရှိနိုင်ပေသည်။ အလ္လာဟ်အရှင်မြတ်သည် ယင်းဆွဟာဗဟ် သာဝကကြီးများအား ချစ်ကြည်နှစ်သက်တော်မူပါစေသတည်း။

وَإِن يُكَذِّبُوكَ فَقَدْ كَذَّبَتْ قَبْلَهُمْ قَوْمُ نُوحٍ وَعَادٌ وَثَمُودُ ﴿٤٢﴾

၄၂။ စင်စစ်အကယ်၍ ၎င်းတို့သည် အသင့်အား မဟုတ်မမှန်ဟူ၍ ငြင်းပယ်ကြပါလျှင် (ယင်းသို့ ငြင်းပယ်ခြင်းကား အထူးအဆန်း မဟုတ်ပေ)။ ဧကန်မလွဲ ထိုသူတို့ထက်အလျင် (နဗီတမန်တော်)နူဟ်၏ အမျိုးသားတို့သည်လည်းကောင်း၊ အာဒ်၏အမျိုးသားတို့သည်လည်းကောင်း၊ ဆမူဒ်၏ အမျိုးသားတို့သည်လည်းကောင်း၊ မဟုတ်မမှန်ဟူ၍ ငြင်းပယ်ခဲ့ကြပြီးဖြစ်သည်။

وَقَوْمُ إِبْرَٰهِيمَ وَقَوْمُ لُوطٍ ﴿٤٣﴾

၄၃။ ထိုနည်းတူစွာ(နဗီတမန်တော်) အီဗ်ရာဟီမ်၏ အမျိုးသားတို့သည်လည်းကောင်း၊ (နဗီတမန်တော်) လူတ်၏ အမျိုးသားတို့သည်လည်းကောင်း။

وَأَصْحَٰبُ مَدْيَنَ ۖ وَكُذِّبَ مُوسَىٰ فَأَمْلَيْتُ لِلْكَٰفِرِينَ ثُمَّ أَخَذْتُهُمْ ۖ فَكَيْفَ كَانَ نَكِيرِ ﴿٤٤﴾

၄၄။ မဒ်ယန်မြို့သားတို့သည် လည်းကောင်း၊ (ငြင်းပယ်ခဲ့ကြကုန်၏)။ ထိုမှတပါး (နဗီတမန်တော်) မူစာသည်လည်း (Copt အမျိုးသားတို့ဘက်မှ) မဟုတ်မမှန်ဟူ၍ ငြင်းပယ်ခြင်းကို ခံခဲ့ရလေသည်။ ထိုအခါ ငါအရှင်မြတ်သည် ကာဖိရ် သွေဖည်ငြင်းပယ်သောသူတို့အား (ပြစ်ဒဏ်ခတ်ခြင်းမှ ခေတ္တ)ရွှေ့ဆိုင်းထားတော်မူခဲ့၏။ ထို့နောက်ငါအရှင်မြတ်သည်၎င်းတို့အား ဖမ်းဆီးကွပ်မျက်တော်မူခဲ့၏။ သို့ဖြစ်ပေရာ ငါအရှင်မြတ်၏ပြစ်ဒဏ်သည် မည်သို့ရှိခဲ့ဘိသနည်း။

فَكَأَيِّن مِّن قَرْيَةٍ أَهْلَكْنَٰهَا وَهِىَ ظَالِمَةٌ فَهِىَ خَاوِيَةٌ عَلَىٰ عُرُوشِهَا وَبِئْرٍ مُّعَطَّلَةٍ وَقَصْرٍ مَّشِيدٍ ﴿٤٥﴾

၄၅။ စင်စစ် မြောက်မြားစွာသော မြို့ရွာများကို ငါအရှင်မြတ်သည် ယင်းမြို့၊ ရွာ(သား)များ မတရားကျူးလွန်သူများ ဖြစ်နေကြစဉ် ဖျက်ဆီးတော်မူခဲ့လေသည်။ သို့ဖြစ်ပေရာ ယင်းမြို့ရွာများ(ရှိ တိုက်တာ အိမ်ဂေဟာအစရှိသော အဆောက်အအုံများ ပြိုကျကာ နံရံများ)မှာ ယင်းအဆောက်အအုံများ၏ ခေါင်မိုးများပေါ်သို့ ပြိုကျ (ပျက်စီး)လျက် ရှိနေပေသည်။

ထို့ပြင် များစွာသော ပျက်စီးနေသည့် ရေတွင်းများသည်လည်းကောင်း၊ မြင့်စွင့်သောတိုက်တာ အိမ်ဂေဟာအစရှိသည့် အဆောက်အအုံများသည်လည်းကောင်း၊ (ယခုတိုင်အောင် လက်ငုတ်လက်စအဖြစ်) ကျန်ရှိနေသေး၏။

اَفَلَمۡ يَسِيۡرُوۡا فِى الۡاَرۡضِ فَتَكُوۡنَ لَهُمۡ قُلُوۡبٌ يَّعۡقِلُوۡنَ بِهَاۤ اَوۡ اٰذَانٌ يَّسۡمَعُوۡنَ بِهَا‌ۚ فَاِنَّهَا لَا تَعۡمَى الۡاَبۡصَارُ وَلٰـكِنۡ تَعۡمَى الۡقُلُوۡبُ الَّتِىۡ فِى الصُّدُوۡرِ ۝٤٦

၄၆။ သို့ပါလျက် ၎င်းတို့သည် ပထဝီမြေဝယ် လှည့်လည်သွားလာမှုကို မပြုခဲ့ကြလေသလော။ သို့ပြုခဲ့ကြလျှင်၊ ထိုသူတို့၌ နားလည်နိုင်သော စိတ်နှလုံးများသော်လည်းကောင်း၊ ကြားနိုင်သောနားများသော်လည်းကောင်း၊ ရှိလာကြပေမည်။ အကြောင်းမှုကား မျက်စိများသည် ကန်းသွားကြသည် မဟုတ်ပေ။ စင်စစ်မှာကား ရင်များ၌ရှိသော စိတ်နှလုံးများသည်သာလျှင် ကန်းသွားလေ့ရှိကြသတည်း။ ၁

---

(၁) **တမန်တော်များအား သက်ဆိုင်ရာအမျိုးသားများက သွေဖည်ခဲ့ကြသည်မှာ အဆန်းမဟုတ်ပါ။**

တမန်တော်မြတ်၏ တရားဓမ္မကို တမန်တော်မြတ်၏ အချို့အမျိုးသားများက သွေဖည်ငြင်းဆန်မနာခံကြသော် ယင်းသို့ မနာခံခြင်းမှာ အထူးအဆန်းမဟုတ်ပါ။ အတိတ်ခေတ်များတွင်လည်း တမန်တော်များသည် မိမိတို့၏ အမျိုးသားများ၏ သွေဖည်ငြင်းဆန် မနာခံခြင်းများကို ခံခဲ့ကြရပေသည်။ ယင်းသို့ သွေဖည်ငြင်းဆန်မနာခံသော သူယုတ်မာတို့အား အလ္လာဟ်အရှင်မြတ်သည် ချက်ချင်း အရေးယူတော်မူနိုင်သော်လည်း အချိန်အတန်ကြာသည်အထိ လျစ်လျူပြုထားတော် မူလေ့ရှိသည်။ သို့ရာတွင် နောက်ဆုံး၌ ယင်းသူယုတ်တို့သည် မိမိတို့၏ သွေဖည်ငြင်းဆန်မနာခံမှုများကြောင့် ကွပ်မျက်ဖျက်ဆီးတော်မူခြင်းကို ခံရကာ မရှုမလှ သေကျေပျက်စီးသွားခဲ့ကြရ သည်သာဖြစ်သည်။

သွေဖည်ငြင်းဆန် မနာခံသော သူမိုက်များသည် အဘယ်ကြောင့် ကမ္ဘာလှည့်၍ မလေ့လာကြသနည်း၊ ကမ္ဘာလှည့်လည်၍ ကွပ်မျက်ဖျက်ဆီးခြင်း ခံရပြီး သေကျေပျက်စီးသွားခဲ့သော သူမိုက်တို့၏ အဖြစ်အပျက်၊ အကြောင်းအရာများနှင့် မရှုမလှ ပျက်စီးယိုယွင်းနေသော ၎င်းတို့၏ တိုက်တာ ဂေဟာ အဆောက်အအုံများကို သွားရောက်ကြည့်ရှု လေ့လာသင့်ကြပေသည်။ သို့ ကမ္ဘာလှည့်လည် လေ့လာပါက ၎င်းတို့၌ ဆင်ခြင်တတ်သော စိတ်နှလုံးများ၊ အမှန်ကို ကြားတတ်သော နားများဖြစ်ပေါ်လာကြပေမည်။ အချိန်မီ သတိသံဝေဂ ရရှိလာကြပေမည်။ သို့မဟုတ်ပါမူ ၎င်းတို့သည်လည်း အတိတ်ခေတ်တွင် ကွပ်မျက်ခြင်းခံခဲ့ကြရသော လူမျိုးများကဲ့သို့ပင် ကွပ်မျက်ခြင်းခံကြရပြီး မရှုမလှ သေကြေပျက်စီးသွားကြ ရမည်သာတည်း။

ဤအာယတ်တော်တွင် အတိတ်ခေတ်၌ ကွပ်မျက်ခြင်းခံခဲ့ကြရသော အမျိုးသားတို့အနက် သာဓကအဖြစ် တမန်တော်နူဟ်၏ အမျိုးသားများ၊ အာဒ်၊ ဆမူဒ်၊ တမန်တော် အီဗ်ရာဟီမ်၏ အမျိုးသားများ၊ ➤➤

وَيَسْتَعْجِلُونَكَ بِالْعَذَابِ وَلَنْ يُّخْلِفَ اللّٰهُ وَعْدَهٗ ۭ وَاِنَّ يَوْمًا عِنْدَ رَبِّكَ كَاَلْفِ سَنَةٍ مِّمَّا تَعُدُّوْنَ ۝

၄၇။ ၎င်းပြင်ထိုသူတို့သည် အသင့်ထံ (လာရောက်ကြ၍) ပြစ်ဒဏ်ကို အဆောတလျင် တောင်းဆိုကြကုန်၏။ ① စင်စစ်သော်ကားအလ္လာဟ်အရှင်မြတ်သည် မိမိကတိကို အလျင်းပျက်ကွက်တော်မူမည်မဟုတ်ပေ။ ၎င်းပြင် ဧကန်စင်စစ် အသင့်အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်အထံတော်၌ နေ့တစ်နေ့သည် အသင်တို့ရေတွက်ကြသော အနှစ်တစ်ထောင် ကဲ့သို့ပင် ဖြစ်ပေသည်။

---

➤➤ တမန်တော် လူတ်၏ အမျိုးသားများ၊ မဒ်ယန်မြို့သားများနှင့် တမန်တော်မူစာ၏ အမျိုးသားများ၏ ဖြစ်ရပ်များကို စဉ်းစားဆင်ခြင်ရန် ထုတ်ဖော်မိန့်ဆိုထားတော်မူသည်။

ဤအာယတ်တော်တွင်ပါရှိသော အမျိုးသားများ၏အကြောင်းများ အထက်တွင် အကြိမ်ကြိမ် ပါရှိခဲ့ပေပြီ၊ သက်ဆိုင်ရာ အဖွင့်များကို ပြန်လည်ရှုပါကုန်။

① သွေဖည်ငြင်းဆန် မနာခံသော ကာဖိရ်များသည် တမန်တော်မြတ်ထံတွင် ၎င်းတို့၌ သက်ရောက်အံ့သော ပြစ်ဒဏ်ကို ယခုပင် အဆောတလျင် သက်ရောက်စေရန် တောင်းဆိုခဲ့ကြသည်။ ကာဖိရ်များ၏ ယင်းသို့သော တောင်းဆိုချက်ကို ကုရ်အာန် (၈း၃၂။ ၃၈း၁၆)တွင်လည်း မိန့်ဆိုထားတော်မူသည်။ ယင်းသို့ တောင်းဆိုခြင်းမှာ မိုက်မဲခြင်း၊ အတင့်ရဲခြင်း၊ မိမိ၌ သက်ရောက်အံ့သော ဘေးမှ လွတ်မြောက်ရန် ကြိုးစားရမည့်အစား ဘေးရန်ကို လက်ယပ်ခေါ်ခြင်းပင်ဖြစ်သည်။

အလ္လာဟ်အရှင်မြတ်သည် အရာရာကို သူ့အချိန်နှင့်သူ ပြုလုပ်တော်မူသည်။ ထိုအရှင်မြတ်သည် မိမိကတိတော်အတိုင်း မိမိသတ်မှတ်ထားတော်မူသော အချိန်၌ ကာဖိရ်များအား ပြစ်ဒဏ်ခတ်တော်မူမည်သာ ဖြစ်သည်။ အမိန့်နာခံသော မွတ်စ်လင်မ်များအား ခြေ့ာက်စားတော်မူမည်သာဖြစ်သည်။ ထိုအချိန်ထက် တစ်နာရီမျှပင် စောမည်လည်း မဟုတ်၊ နောက်ကျမည်လည်းမဟုတ်။ ဤသည် အလ္လာဟ်အရှင်မြတ် ထားရှိတော်မူသာ ကတိတော်ပင်ဖြစ်သည်။ ထိုအရှင်မြတ်သည် မိမိကတိတော်ကို ဘယ်သောအခါမျှ ဖျက်တော်မူသည် မရှိပေ။ သတ်မှတ်ထားတော်မူသည့်အချိန် ရောက်လာသည့်အခါ ကတိတော်အတိုင်း တစ်စွန်းတစ်စမကျန် အကုန်အစဉ် ဖြစ်ပေါ်လာမည်သာဖြစ်သည်။

အချိန်မရောက်သေး၍ ပြစ်ဒဏ်မသက်ရောက်သေးသည်ကို အထင်လွဲကာ၊ အတင့်ရဲကာ မိုက်မဲစွာဖြင့် ပြစ်ဒဏ်ကို လက်ယပ်ခေါ်နေရန်မလို၊ အချိန်တန်က ပြစ်ဒဏ်သက်ရောက်မည်သာ ဖြစ်သည်။

အလ္လာဟ်အရှင်မြတ်သည် ပြစ်မှုကျူးလွန်၍ မိမိတို့ကိုယ်ကို မိမိတို့ကိုယ်တိုင် ကျူးလွန်စော်ကားလျက် ရှိသောသူများကို ရုတ်တရက် ချက်ချင်း အရေးယူတော်မူလေ့မရှိချေ။ နောင်တရစိမ့်သောငှာ အချိန်အတော်အတန် ကြာသည်အထိ လျစ်လျူပြုထားတော်မူလေ့ရှိသည်။ ကာဖိရ်များသည် ယင်းသို့ လျစ်လျူပြုထားတော်မူသည့် အချိန်တွင် အချိန်မီ သတိသံဝေဂ နောင်တတရားရကြရမည့်အစား ပြောင်လှောင်ခြင်း၊ ပြစ်ဒဏ်ကို အဆောတလျင် တောင်းခြင်းကို ပြုလုပ်ကြလေသည်။ ဤသို့သော ကာဖိရ်များထက် မိုက်သူကား အသူရှိအံ့နည်း။

وَكَأَيِّن مِّن قَرْيَةٍ أَمْلَيْتُ
لَهَا وَهِيَ ظَالِمَةٌ ثُمَّ أَخَذْتُهَا ۚ
وَإِلَيَّ الْمَصِيرُ ﴿٤٨﴾

၄၈။ စင်စစ် မြောက်မြားစွာသော မြို့ရွာများရှိ၏။ ငါအရှင်မြတ်သည် ထိုမြို့ရွာ(သား)တို့ကို ပြစ်မှု ကျူးလွန်သူများ ဖြစ်နေကြစဉ် (ပြစ်ဒဏ်ခတ်ခြင်းမှ) ရွှေ့ဆိုင်းတော်မူခဲ့၏။ ထို့နောက် ငါအရှင်မြတ်သည် ယင်းမြို့(သား)တို့အား ဖမ်းဆီးကွပ်မျက်တော်မူခဲ့၏။ ၎င်းပြင် (ထိုသူတို့အားလုံးသည်) ငါအရှင်မြတ် အထံတော်သို့သာလျှင် ပြန်လည်ရောက်ရှိကြမည် ဖြစ်ချေသတည်း။

قُلْ يَا أَيُّهَا النَّاسُ إِنَّمَا أَنَا
لَكُمْ نَذِيرٌ مُّبِينٌ ﴿٤٩﴾

၄၉။ (အို-နဗီတမန်တော်) အသင်သည် (ဤသို့) ပြောကြားပါလေ၊ အို-လူသားအပေါင်းတို့၊ ငါသည် အသင်တို့အဖို့ ထင်ရှားစွာ သတိပေးနိုးဆော်သူ တစ်ဦးမျှ ဖြစ်ပေသည်။[၁]

فَالَّذِينَ آمَنُوا وَعَمِلُوا
الصَّالِحَاتِ لَهُم مَّغْفِرَةٌ
وَرِزْقٌ كَرِيمٌ ﴿٥٠﴾

၅၀။ သို့ဖြစ်ရာ သက်ဝင် ယုံကြည်ခဲ့ကြသော၊ ကောင်းမြတ်သော အကျင့်သီလများကိုလည်း ကျင့်မှု ဆောက်တည်ကြကုန်သောသူတို့အဖို့ (အပြစ်မှ) လွတ်ငြိမ်းချမ်းသာခွင့်သည်လည်းကောင်း၊ မြင့်မြတ်သော စားနပ်ရိက္ခာသည်လည်းကောင်း၊ ရှိချိမ့်မည်။

وَالَّذِينَ سَعَوْا فِي آيَاتِنَا
مُعَاجِزِينَ أُولَٰئِكَ أَصْحَابُ
الْجَحِيمِ ﴿٥١﴾

၅၁။ သို့ရာတွင် ငါ အရှင်မြတ်၏ သက်သေလက္ခဏာတော်များနှင့်စပ်လျဉ်း၍ (နဗီတမန်တော်မြတ်အားလည်းကောင်း၊ မွတ်စ်လင်မ်တို့အား လည်းကောင်း၊ နှိမ်နင်းရန်(ရှုံးနိမ့်စေရန်) ကြိုးပမ်း(ဆောင်ရွက်) သူတို့မူကား၊ ထိုသူတို့သည်ပင်လျှင် ငရဲသားများ ဖြစ်ကြကုန်သတည်း။

---

(၁) **တမန်တော်မြတ်၏ တာဝန်။**

အထက်ပါအာယတ်တော်တွင် လာရှိသည့်အတိုင်း ကာဖိရ်များသည် တမန်တော်မြတ်ထံတွင် ၎င်းတို့အား အဆောတလျင် ပြစ်ဒဏ်ခတ်ရန် တောင်းဆိုခဲ့ကြသည်။ အမှန်မှာ ပြစ်ဒဏ်ခတ်ခြင်းသည် အလ္လာဟ်အရှင်မြတ်၏ လက်တော်တွင်း၌သာ ရှိပေသည်။ တမန်တော်မြတ်၏ လက်တွင်း၌မရှိပေ။ အလ္လာဟ်အရှင်မြတ်သည် ➢➢

وَمَآ أَرۡسَلۡنَا مِن قَبۡلِكَ مِن رَّسُولٖ وَلَا نَبِيٍّ إِلَّآ إِذَا تَمَنَّىٰٓ أَلۡقَى ٱلشَّيۡطَٰنُ فِيٓ أُمۡنِيَّتِهِۦ فَيَنسَخُ ٱللَّهُ مَا يُلۡقِي ٱلشَّيۡطَٰنُ ثُمَّ يُحۡكِمُ ٱللَّهُ ءَايَٰتِهِۦۗ وَٱللَّهُ عَلِيمٌ حَكِيمٞ ﴿٥٢﴾

၅၂။ စင်စစ် ငါအရှင်မြတ်သည် အသင့်အလျင် ရစူလ်တမန်တော်များကိုလည်းကောင်း၊ နဗီတမန်တော် များကိုလည်းကောင်း၊ စေလွှတ်တော်မူခဲ့၏။ ထို(ရစူလ် သို့မဟုတ် နဗီ)တမန်တော်သည် (တစ်စုံတစ်ရာကို) ရွတ်ဖတ်သရဇ္ဈာယ်သောအခါ ရှိုင်တွာန် မိစ္ဆာကောင် သည် ထို (ရစူလ် သို့မဟုတ် နဗီ)တမန်တော်၏ ရွတ်ဖတ်သရဇ္ဈာယ်မှု(ကျမ်းချက်)နှင့်စပ်လျဉ်း၍ (မယုံ ကြည်သောသူ၊ မတည်မငြိမ်ဖြစ်နေသောသူတို့၏ စိတ်တွင်းဝယ် ဒွိဟသံသယကို) ထည့်သွင်းလေ့ရှိခဲ့၏။ ထိုအခါအလ္လာဟ်အရှင်မြတ်သည် ရှိုင်တွာန်မိစ္ဆာကောင် ထည့်သွင်းသမျှ(သောဒွိဟသံသယမှုများ)ကို ပပျောက် စေတော်မူလေ၏။ထို့နောက်အလ္လာဟ်အရှင်မြတ်သည် မိမိအာယတ်တော်များကို (ပိုမို၍ပင်) တည်တံ့ခိုင်မြဲ တော်မူ၏။စင်စစ်သော်ကား အလ္လာဟ်အရှင်မြတ်သည် အရာခပ်သိမ်းတို့ကို အကြွင်းမဲ့ သိတော်မူသောအရှင်၊ ဆင်ခြင်တုံဉာဏ်နှင့် ပြည့်စုံတော်မူသောအရှင်ဖြစ်တော် မူပေသတည်း။

لِّيَجۡعَلَ مَا يُلۡقِي ٱلشَّيۡطَٰنُ فِتۡنَةٗ لِّلَّذِينَ فِي قُلُوبِهِم مَّرَضٞ وَٱلۡقَاسِيَةِ قُلُوبُهُمۡۗ وَإِنَّ ٱلظَّٰلِمِينَ لَفِي شِقَاقِۭ بَعِيدٖ ﴿٥٣﴾

၅၃။ (ဤသို့ဖြစ်ရခြင်းမှာ) ထိုအရှင်မြတ်သည် ရှိုင်တွာန် မိစ္ဆာကောင်ထည့်သွင်းသည့် (ဒွိဟသံသယ မှုများ)ကို စိတ်တွင်းရောဂါဝေဒနာ ရှိနေသူတို့အဖို့ လည်းကောင်း၊ စိတ်နှလုံး ခက်ထန်မာကျောသူတို့အဖို့ လည်းကောင်း၊ စမ်းသပ်မှုပြုတော်မူရန်ဖြစ်ပေသည်။ ဧကန်မလွဲမတရားကျူးလွန်သောသူတို့သည် ဝေးလံစွာ သော ကွဲပြားမှု၌ပင်(ငြင်းခုံမှု၌ပင်)ရှိနေကြကုန်၏။

➤➤ မုအ်မင်န်သူတော်စင်တို့အား လွတ်ငြိမ်းချမ်းသာခွင့် ပေးတော်မူ၍ ဂျန္နတ် အမတသုခဘုံသို့ လားစေတော်မူမည် ဖြစ်သည်။ ကာဖိရ် သူယုတ်မာတို့ကိုမူကား ဂျဟန္နမ် ငရဲဘုံသို့ လားစေတော်မူမည်သာဖြစ်သည်။ တမန်တော်မြတ်၏တာဝန်မှာ ပွင့်လင်းစွာ သတိပေးနှိုးဆော်ရန်သာဖြစ်သည်။ ဤသည့်သဘောကိုပင် ဤအာယတ်တော်တွင် ရည်ညွှန်းမိန့်ဆိုထားတော်မူသည်။

وَلِيَعۡلَمَ الَّذِيۡنَ اُوۡتُوا الۡعِلۡمَ اَنَّهُ الۡحَـقُّ مِنۡ رَّبِّكَ فَيُؤۡمِنُوۡا بِهٖ فَتُخۡبِتَ لَهٗ قُلُوۡبُهُمۡؕ وَاِنَّ اللّٰهَ لَهَادِ الَّذِيۡنَ اٰمَنُوۡۤا اِلٰى صِرَاطٍ مُّسۡتَقِيۡمٍ ﴿٥٤﴾

၅၄။ ထိုမှတစ်ပါး (ဤသို့ဖြစ်ရခြင်းမှာ) အသိပညာ ချီးမြှင့်ပေးသနားတော်မူခြင်း ခံကြရသောသူတို့သည် ဤ(ကုရ်အာန်ကျမ်းတော်မြတ်)ကား အသင့်အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်အထံတော်မှ အမှန်ဖြစ်ကြောင်း သိရှိကြရန်လည်း ဖြစ်ပေသည်။ သို့(သိရှိကြ)လျှင် ၎င်းတို့သည် ဤ(ကုရ်အာန်ကျမ်းမြတ်)ကို (ပိုမို၍ပင်) ယုံကြည်လာကြပေမည်။ တစ်ဖန် ၎င်းတို့၏ စိတ်နှလုံးများသည်လည်း ယင်း(ကုရ်အာန်ကျမ်းမြတ်)၏ ရှေ့ဝယ် (သာ၍ပင်) ညွှတ်ပျောင်း ယိမ်းညွှတ်လာကြမည်ဖြစ်သည်။ ဧကန်စင်စစ် အလ္လာဟ်အရှင်မြတ်သည် မုအ်မင်န် သက်ဝင်ယုံကြည်သူတို့အား ဖြောင့်မတ်သောလမ်းကို ညွှန်ပြတော်မူသောအရှင် အမှန်ပင် ဖြစ်တော်မူပေသတည်း။

وَلَا يَزَالُ الَّذِيۡنَ كَفَرُوۡا فِىۡ مِرۡيَةٍ مِّنۡهُ حَتّٰى تَاۡتِيَهُمُ السَّاعَةُ بَغۡتَةً اَوۡ يَاۡتِيَهُمۡ عَذَابُ يَوۡمٍ عَقِيۡمٍ ﴿٥٥﴾

၅၅။ စင်စစ်သော်ကား မယုံမကြည် သွေဖည် ငြင်းပယ်ခဲ့ကြသော သူတို့သည် ထိုသူတို့အပေါ်ဝယ် ကိယာမတ် ရောက်လာသည့်တိုင်အောင်၊ သို့မဟုတ် ထိုသူတို့ထံ အကြောင်းမလှသော(အမင်္ဂလာဖြစ်သော) နေ့၏ ပြစ်ဒဏ်ရောက်လာသည့်တိုင်အောင်၊ ယင်း(ကုရ်အာန်ကျမ်းတော်မြတ်)နှင့်စပ်လျဉ်း၍ဒွိဟသံသယ၌ပင် ရှိမြဲရှိနေကြပေမည်။

اَلۡمُلۡكُ يَوۡمَـئِذٍ لِّلّٰهِ ؕ يَحۡكُمُ بَيۡنَهُمۡ ؕ فَالَّذِيۡنَ اٰمَنُوۡا وَعَمِلُوا الصّٰلِحٰتِ فِىۡ جَنّٰتِ النَّعِيۡمِ ﴿٥٦﴾

၅၆။ ထိုနေ့တွင် စိုးမိုးအုပ်ချုပ်မှုသည် အလ္လာဟ်အရှင်မြတ်၌သာရှိပေမည်။ ထိုအရှင်မြတ်သည် ၎င်းတို့အကြားဝယ် စီရင်ဆုံးဖြတ်တော်မူမည်။ ထို့နောက် အကြင်သူတို့သည် သက်ဝင် ယုံကြည်ခဲ့ကြကုန်၏။ ၎င်းပြင် ထိုသူတို့သည် ကောင်းမြတ်သော အကျင့်သီလများကို ကျင့်မူဆောက်တည်ခဲ့ကြကုန်၏။ (ထိုသူတို့သည်) သုခချမ်းသာနှင့်ပြည့်စုံသော ဥယျာဉ်များ၌ ရှိကြပေမည်။

وَالَّذِينَ كَفَرُوا وَكَذَّبُوا بِآيَاتِنَا فَأُولَٰئِكَ لَهُمْ عَذَابٌ مُّهِينٌ ﴿٥٧﴾

၅၇။ သို့ရာတွင် အကြင်သူတို့သည် သွေဖည်ငြင်းပယ်ခဲ့ကြကုန်၏။ ၎င်းပြင်ထိုသူတို့သည် ငါအရှင်မြတ်၏အာယတ်တော်များကို မဟုတ်မမှန်ဟူ၍ ငြင်းဆိုခဲ့ကြကုန်၏။ ထိုသူတို့မူကား ၎င်းတို့၌ ဂုဏ်အင်သေးသိမ်စေသောပြစ်ဒဏ်သည် ရှိချေအံ့သတည်း။

وَالَّذِينَ هَاجَرُوا فِي سَبِيلِ اللَّهِ ثُمَّ قُتِلُوا أَوْ مَاتُوا لَيَرْزُقَنَّهُمُ اللَّهُ رِزْقًا حَسَنًا ۚ وَإِنَّ اللَّهَ لَهُوَ خَيْرُ الرَّازِقِينَ ﴿٥٨﴾

၅၈။ ၎င်းပြင် အကြင်သူတို့သည် အလ္လာဟ်အရှင်မြတ်၏ သာသနာ့လမ်းစဉ်၌ (မိမိတို့၏ အိုးအိမ်စည်းစိမ် ခပ်သိမ်းတို့ကိုစွန့်၍) ရွှေ့ပြောင်းခဲ့ကြရ၏။ ထို့နောက် ထိုသူတို့သည် သတ်ဖြတ်ခြင်းကို ခံခဲ့ကြရသည်ဖြစ်စေ၊ သေဆုံးခဲ့ကြသည်ဖြစ်စေ၊ ဧကန်အမှန် အလ္လာဟ်အရှင်မြတ်သည်၎င်းတို့အား အလွန် ကောင်းမြတ်သော စားနပ်ရိက္ခာမျိုးကို ချီးမြှင့်ပေးသနားတော်မူပေမည်။ စင်စစ်ဧကန် အလ္လာဟ်အရှင်မြတ်သည်ပင်လျှင် *အကောင်းဆုံး (အပေါများဆုံး)စားနပ်ရိက္ခာချီးမြှင့် ပေးသနားတော်မူသော အရှင် ဖြစ်တော်မူပေသည်။* [၁]

---

(၁) **"မုဟာဂျိရ်" များအဖို့ ကောင်းချီးသြဘာ။**

အထက်တွင် မုအ်မင်န် သူတော်စင်များ၏ ကောင်းမွန်သော နောက်ဆုံးအခြေအနေနှင့် စံစားကြရမည့် အကျိုးများကို မိန့်ဆိုထားတော်မူသည်။ ယခု ဤအာယတ်တော်တွင် မုအ်မင်န်များအနက် သီးသန့်အုပ်စုတစ်ခု၏ အကြောင်းကို မိန့်ဆိုထားတော်မူသည်။ အကြင် မုအ်မင်န်များသည် အလ္လာဟ်အရှင်မြတ်၏ သာသနာ့လမ်းတော်၌ မိမိတို့၏ အိမ်၊ အိုး၊ တိုက်တာ၊ ဂေဟာများကိုစွန့်၍ အရပ်တစ်ပါးသို့ပင် ထွက်ခွာသွားခဲ့ကြ၏။ ၎င်းတို့အနက် အချို့တို့သည် စစ်ပွဲများ၌ အသက်ပေးသွားခဲ့ကြ၏။ 'ရှဟီဒ်' ဖြစ်သွားခဲ့ကြ၏။ အချို့တို့သည် ရိုးရိုးပင် သေဆုံးသွားခဲ့ကြ၏။ အသို့ပင်ဖြစ်စေကာမူ ယင်းသို့သော 'မုဟာဂျိရ်' များ၊ 'မုဂျာဟိဒ်' များ၊ 'ရှဟီဒ်'များသည် စိတ်အားငယ်ရန် မလိုပေ။ အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့အား အထူးတလည် ချီးမြှင့်တော်မူမည်ဖြစ်သည်။ စားဝတ်နေရေး အရေးရေးတို့နှင့် စပ်လျဉ်း၍ ၎င်းတို့ အာသာဆန္ဒ ရှိသမျှတို့ကို လိုလေသေးသည်မရှိ ချီးမြှင့်တော်မူမည်ဖြစ်သည်။

အလ္လာဟ်အရှင်မြတ်သည် (အလီမ်)အလုံးစုံကို သိမြင်တော်မူသော အရှင် ဖြစ်တော်မူသည်။ (ဟလီမ်) အလွန် သည်းခံတော်မူသောအရှင် ဖြစ်တော်မူသည်။ ဤအာယတ်တော်တွင် ဤဂုဏ်တော် နှစ်ပါးကို ထည့်သွင်းဖော်ပြထားတော်မူခြင်းမှာ–



لَيُدْخِلَنَّهُمْ مُّدْخَلًا يَّرْضَوْنَهٗ ۚ وَاِنَّ اللّٰهَ لَعَلِيْمٌ حَلِيْمٌ ﴿٥٩﴾

၅၉။ ဧကန်မလွဲ အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့အား ၎င်းတို့နှစ်သက်ကြအံ့သော နေရာဌာနကို ဝင်ရောက်စေတော်မူမည်။ အမှန်စင်စစ် အလ္လာဟ်အရှင်မြတ်သည် အရာခပ်သိမ်းတို့ကို အကြွင်းမဲ့ သိတော်မူသောအလုံးစုံကိုသိမြင်တော်မူသောအရှင်၊ အလွန်တရာသည်းခံတော်မူသောအရှင် အမှန်ပင်ဖြစ်တော်မူ၏။

ذٰلِكَ ۚ وَمَنْ عَاقَبَ بِمِثْلِ مَا عُوْقِبَ بِهٖ ثُمَّ بُغِيَ عَلَيْهِ لَيَنْصُرَنَّهُ اللّٰهُ ۗ اِنَّ اللّٰهَ لَعَفُوٌّ غَفُوْرٌ ﴿٦٠﴾

၆၀။ ဤသည်ပင် (အသင့်အား ငါအရှင်ပြောကြားတော်မူသောအရေးကိစ္စများဖြစ်၏)။ ၎င်းပြင် အကြင်သူသည် မိမိဒုက္ခပေးခြင်းကို ခံခဲ့ရသည်နှင့်အညီအမျှ ပြန်လှန်ဒုက္ခပေးခဲ့လေသည်။ ထို့နောက်တစ်ဖန် ထိုသူသည် ကျူးလွန်စော်ကားခြင်းကို ခံခဲ့ရပြန်သည်ရှိသော် မချွတ်ဧကန် *အလ္လာဟ်အရှင်မြတ်သည် ထိုသူအား ကူညီတော်မူမည်ဖြစ်၏။* [၁] ဧကန်စင်စစ် အလ္လာဟ်အရှင်မြတ်သည် အလွန်တရာ ခွင့်လွှတ်တော်မူသောအရှင်၊ အလွန်တရာ အပြစ်မှလွတ်ငြိမ်းချမ်းသာခွင့်ပေးသနားတော်မူသောအရှင် အမှန်ပင် ဖြစ်တော်မူပေသတည်း။

---

➤➤ (က) အလ္လာဟ်အရှင်မြတ်၏ လမ်းတော်၌ မည်သူမည်ဝါတို့သည် စိတ်စေတနာဖြူစင်စွာဖြင့် မိမိတို့၏ အိမ်အိုး၊ တိုက်တာ၊ ဇေဟာများစွန့်၍ အရပ်တစ်ပါးသို့ ထွက်ခွာလာခဲ့ကြသည်များကို အကြွင်းမဲ့ သိတော်မူသည်။ အကယ်၍ အချို့မုဟာဂျီရ်၊ မုဂျာဟီဒ်များ၌ ချွတ်ယွင်းမှုများရှိပါကလည်း ထိုအရှင်မြတ်သည် မိမိ၏ဟလီမ်ဟူသော ဂုဏ်တော်နှင့်အညီခွင့်လွှတ်တော်မူမည်ဖြစ်သည်။

(ခ) ဤဂုဏ်တော်နှစ်ပါးကို ဤအာယတ်တော်တွင် ထည့်သွင်းဖော်ပြထားခြင်း၏အလိုသဘောမှာ ဤသို့လည်း ဖြစ်နိုင်၏။ ထိုအရှင်မြတ်သည် အလုံးစုံကို သိမြင်တော်မူသော အရှင်ဖြစ်တော်မူသည်။ မည်သူမည်ဝါတို့သည် မုအ်မင်န် သူတော်စင်တို့အား ၎င်းတို့၏ အိမ်အိုး၊ တိုက်တာ၊ ဇေဟာများကိုစွန့်၍ အရပ်တစ်ပါးသို့ ထွက်ခွာသွားကြရအောင် နှိပ်စက်ကလူ ပြုခဲ့ကြသည်များကို အကြွင်းမဲ့သိတော်မူသည်။ သို့ရာတွင် ထိုအရှင်မြတ်သည် မိမိ၏ ဟလီမ်ဟူသော ဂုဏ်တော်နှင့်အညီ ယင်းသို့ နှိပ်စက်ကလူပြုသူတို့အား ရုတ်တရက်ချက်ချင်း ပြစ်ဒဏ်ခတ်တော်မမူပေ။

၁ **<u>အနှိပ်စက်ခံအား အလ္လာဟ်အရှင်မြတ် ကူညီတော်မူမည်သာ။</u>**

မတရားသဖြင့် နှိပ်စက်ခြင်းခံရသူတစ်ဦးသည် မိမိအား နှိပ်စက်သူကို မိမိနှိပ်စက်ခြင်းခံ ➤➤

ذٰلِكَ بِاَنَّ اللّٰهَ يُوْلِجُ الَّيْلَ فِى النَّهَارِ وَيُوْلِجُ النَّهَارَ فِى الَّيْلِ وَاَنَّ اللّٰهَ سَمِيْعٌ بَصِيْرٌ ﴿٦١﴾

၆၁။ ဤ(သို့ ကူညီတော်မူခြင်းကား) အလ္လာဟ် အရှင်မြတ်သည် ညဥ့်(၏အစိတ်အပိုင်း)ကို နေ့၏ အတွင်း၌ ဝင်စေတော်မူ၍ နေ့(၏အစိတ်အပိုင်း)ကို ညဥ့်၏ အတွင်း၌ ဝင်စေတော်မူသောကြောင့်လည်း ကောင်း၊အလ္လာဟ်အရှင်မြတ်သည် (မုအ်မင်န်သက်ဝင် ယုံကြည်သူတို့၏ဆုတောင်းပတ္တနာကို) အလွန် ကြား တော်မူသောအရှင်၊ (ထိုသူတို့၏အခြေအနေကိုလည်း) အလွန်မြင်သောကြောင့်လည်းကောင်း၊ ဖြစ်ပေသည်။[၁]

---

➤➤ ခဲ့ရသည်နှင့်အမျှ တုံ့ပြန်လက်စားချေအံ့၊ ထို့နောက် တစ်ဖန် ပထမအကြိမ် စတင်နှိပ်စက်ခဲ့သောသူသည် ထိုအနှိပ်စက်ခံအား ထပ်မံနှိပ်စက်ပြန်သော်၊ နှိပ်စက်ခံရသူသည် တစ်ဖန် ပြန်လည်အနှိပ်စက်ခံ ဖြစ်သွားပေပြီဖြစ်ရာ၊ အလ္လာဟ်အရှင်မြတ်သည် ထိုအနှိပ်စက်ခံအား မုချကူညီတော်မူမည်သာဖြစ်သည်။ ဤသည် အလ္လာဟ်အရှင်မြတ်၏ စွန္နတ်တော်ပင်။

(၁) **<u>ကမ္ဘာ့စက်ယန္တရားကြီးကို ကြိုးကိုင်ခြယ်လှယ်နေတော်မူသော အရှင်သည် အနှိပ်စက်ခံတို့၏ဘဝကို အသို့လျှင် ပြောင်းလဲ ပေးတော်မမူဘဲ ရှိတော်မူအံ့နည်း။</u>**

အလ္လာဟ်အရှင်မြတ်သည် ဉာဏ်တော်အနန္တ၊ တန်ခိုးတော်အနန္တနှင့် ပြည့်စုံတော်မူသည်။ စကြာဝဠာ အနန္တ၏ စက်ယန္တရားကြီး တစ်ခုလုံးကို ကြိုးကိုင်ခြယ်လှယ်နေတော်မူသည်။ ဂြိုလ်ကြီးဂြိုလ်ငယ်အားလုံးတို့သည် ထိုအရှင်မြတ်၏ စီမံခန့်ခွဲမှု၊ ဖန်တီးမှုအောက်တွင် စနစ်တကျ လှုပ်ရှားသွားလာလျက် ရှိကြပေသည်။ နေ့နှင့်ညဥ့်၏ ပြောင်းလဲခြင်းမှာ ထိုအရှင်မြတ်၏ စီမံမှုပင်။ နေ့တာရှည်ခြင်း၊ ညဥ့်တာတိုခြင်း၊ ညဥ့်တာရှည်ခြင်း၊ နေ့တာတိုခြင်း များသည်လည်း ထိုအရှင်မြတ်၏ စီမံမှုပင်။ ကမ္ဘာ့စက်ယန္တရားကြီး၏ သွားလာလှုပ်ရှားနေမှုသည်လည်း ထိုအရှင်မြတ်၏ စီမံမှုပင်။

သို့ဖြစ်ပေရာ ထိုထိုသော ဉာဏ်တော်အနန္တ၊ တန်ခိုးတော်အနန္တနှင့် ပြည့်စုံတော်မူသော အလ္လာဟ် အရှင်မြတ်သည် အနှိပ်စက်ခံတို့၏ဘဝကို အသို့လျှင် ပြောင်းလဲပစ်တော်မမူဘဲ ရှိတော်မူအံ့နည်း။ ထိုအရှင်မြတ်သည် အနှိပ်စက်ခံတို့အား နှိပ်စက်သူတို့၏ လက်တွင်းမှ အသို့လျှင် လွတ်မြောက်စေတော်မမူဘဲ ရှိတော်မူအံ့နည်း။ ထို့ပြင်မက အနှိပ်စက်ခံတို့အား ကူညီထောက်မတော်မူ၍ နှိပ်စက်သူများ အပေါ်၌ပင် စီမံကွပ်ကဲအုပ်ချုပ်သူများအဖြစ် ခန့်အပ်တော်မူနိုင်သည် မဟုတ်ပါလော။

အထက်တွင် အနှိပ်စက်ခံ မုဟာဂျီရ်များ၏အကြောင်းပါရှိ၏။ ယခုဤအာယတ်တော်တွင် နေ့နှင့်ညဥ့်ကို ပြောင်းလဲတော်မူသကဲ့သို့ အနှိပ်စက်ခံ မုဟာဂျီရ်တို့၏ဘဝကိုလည်း မကြာမီအတွင်း ပြောင်းလဲပေးတော်မူမည် ဖြစ်ကြောင်း၊ ကုဖ်ရ်၏ အမှောင်ထုများကို ဖြိုခွင်း၍ အစ္စလာမ့်ရောင်ခြည်များကို ထွန်းလင်းတောက်ပစေတော် မူမည့်အကြောင်းကို ရည်ညွှန်းမိန့်ဆိုထားခြင်းဖြစ်သည်။ သို့ ရည်ညွှန်း မိန့်ဆိုထားတော်မူသည့်အတိုင်း အနှိပ်စက်ခံ မုဟာဂျီရ်တို့အား နှိပ်စက်သော ကာဖိရ်များအပေါ်၌ စီမံအုပ်ချုပ်သူများအဖြစ် ခန့်အပ်မြှောက်စားတော်မူခဲ့သည် မဟုတ်ပါလော။ ဤအာယတ်တော်နှင့်ဆက်စပ်၍ ကုရ်အာန်(၃း၂၅း၂၆)ကို ကြည့်ရှုဆင်ခြင်ပါကုန်။

ذٰلِكَ بِاَنَّ اللّٰهَ هُوَ الْحَقُّ وَاَنَّ مَا يَدْعُوْنَ مِنْ دُوْنِهٖ هُوَ الْبَاطِلُ وَاَنَّ اللّٰهَ هُوَ الْعَلِيُّ الْكَبِيْرُ ﴿٦٢﴾

၆၂။ ဤ(သို့ ကူညီတော်မူခြင်းကား) အလ္လာဟ် အရှင်မြတ်သည်သာလျှင် မှန်ကန်သောအရှင်ဖြစ်တော်မူ၍ ထိုသူတို့ ဟစ်ခေါ်(တသကိုးကွယ်)ကြသောအရာများမှာမူကား (လုံး၀)မှားသောကြောင့်လည်းကောင်း၊ အလ္လာဟ်အရှင်မြတ်သည်သာလျှင် အလွန်မြင့်မြတ်တော်မူသောအရှင်၊ အလွန်ကြီးကဲတော်မူသောအရှင်၊ ဖြစ်တော်မူသောကြောင့်လည်းကောင်း၊ဖြစ်ချေသတည်း။

اَلَمْ تَرَ اَنَّ اللّٰهَ اَنْزَلَ مِنَ السَّمَآءِ مَآءً فَتُصْبِحُ الْاَرْضُ مُخْضَرَّةً ؕ اِنَّ اللّٰهَ لَطِيْفٌ خَبِيْرٌ ﴿٦٣﴾

၆၃။ ဧကန်စင်စစ် အလ္လာဟ်အရှင်မြတ်သည် မိုးရေကိုရွာသွန်းစေတော်မူခဲ့ရာ ပထဝီမြေမှာစိမ်းစိမ်းစိုစို ဖြစ်လာသည်ကို အသင်သည် မသိမမြင်လေသလော။ ဧကန်မလွဲ အလ္လာဟ်အရှင်မြတ်သည် အလွန်တရာ ချစ်ခင်သနားကြင်နာတော်မူသော၊ အလွန်တရာကြား သိတော်မူသောအရှင်မြတ်ပင် ဖြစ်တော်မူပေသည်။

لَهٗ مَا فِى السَّمٰوٰتِ وَمَا فِى الْاَرْضِ ؕ وَاِنَّ اللّٰهَ لَهُوَ الْغَنِيُّ الْحَمِيْدُ ﴿٦٤﴾

၆၄။ မိုးကောင်းကင်များ၌ ရှိသမျှတို့သည်လည်းကောင်း၊ ကမ္ဘာမြေ၀ယ်ရှိသမျှတို့သည်လည်းကောင်း၊ ထိုအရှင်မြတ်ပိုင်ဆိုင်သော အရာများချည်းသာ ဖြစ်ကုန်၏။ ဧကန်စင်စစ် အလ္လာဟ် အရှင်မြတ်သည် သာလျှင်မှီခိုအားထားခြင်းကင်းမဲ့တော်မူသော၊ ချီးမွမ်းထောပနာကိုခံယူထိုက်တော်မူသော၊ အရှင်မြတ်ပင် ဖြစ်တော်မူပေသည်။

اَلَمْ تَرَ اَنَّ اللّٰهَ سَخَّرَ لَكُمْ مَّا فِى الْاَرْضِ وَالْفُلْكَ تَجْرِىْ فِى الْبَحْرِ بِاَمْرِهٖ ؕ وَيُمْسِكُ

၆၅။ အသင်သည် မသိမမြင်လေသလော။ ဧကန်မလွဲ အလ္လာဟ်အရှင်မြတ်သည် အသင်တို့အဖို့ ပထဝီမြေ၀ယ်ရှိသည်တို့ကိုနိုင်နင်းစေတော်မူခဲ့၏။ (အသုံး၀င်စေတော်မူခဲ့၏)။ ထိုနည်းတူစွာ (ထိုအရှင်မြတ်သည်) သင်္ဘော(စသည်တို့)ကိုလည်း (အသင်တို့အဖို့ နိုင်နင်းစေတော်မူခဲ့၏။) ယင်းသင်္ဘောသည် ထိုအရှင်မြတ်၏ အမိန့်တော်နှင့် သမုဒ္ဒရာပင်လယ်၌ သွားလာ လှုပ်ရှားလျက်ရှိပေသည်။

السَّمَاءَ أَنْ تَقَعَ عَلَى الْأَرْضِ إِلَّا بِإِذْنِهِ ۗ إِنَّ اللَّهَ بِالنَّاسِ لَرَءُوفٌ رَحِيمٌ ٦٥

ထိုမှတစ်ပါးထိုအရှင်မြတ်သည်ပင် မိုးကောင်းကင်ကို ပထဝီမြေပေါ်သို့ ပြိုကျမသွားရန် တားဆီး(ထိန်းသိမ်း)၍ ထားတော်မူသည်။ (သို့ရာတွင် အချိန်တန်၍)ထိုအရှင်၏အမိန့်တော်ရှိလာက(ပြိုကျသွားမည်ဖြစ်သည်၊) မချွတ်ဧကန် အလ္လာဟ်အရှင်မြတ်သည် လူသားတို့အပေါ်ဝယ် အလွန်နူးညံ့သိမ်မွေ့တော်မူသော၊ အလွန်တရာ သနားကြင်နာညှာတာတော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူပေသည်။

وَهُوَ الَّذِي أَحْيَاكُمْ ثُمَّ يُمِيتُكُمْ ثُمَّ يُحْيِيكُمْ ۗ إِنَّ الْإِنْسَانَ لَكَفُورٌ ٦٦

၆၆။ ထိုအရှင်မြတ်သည်ပင်လျှင် အသင်တို့အား အသက်ရှင်ခြင်းကို ချီးမြှင့်တော်မူခဲ့သောအရှင် ဖြစ်တော်မူသည်။ တစ်ဖန် ထိုအရှင်မြတ်သည် အသင်တို့အား အသက်သေစေတော်မူမည်။ ထို့နောက် တစ်ဖန် ထိုအရှင်မြတ်သည်အသင်တို့အား အသက်ရှင်စေတော်မူမည်ဖြစ်သည်။ ဧကန်မလွဲ လူသားသည် အလွန်တရာ ကျေးဇူးကန်းသူ အမှန်ပင် ဖြစ်ချေသတည်း။

لِكُلِّ أُمَّةٍ جَعَلْنَا مَنْسَكًا هُمْ نَاسِكُوهُ ۖ فَلَا يُنَازِعُنَّكَ فِي الْأَمْرِ ۚ وَادْعُ إِلَىٰ رَبِّكَ ۖ إِنَّكَ

၆၇။ ငါအရှင်မြတ်သည် *သာသနာဝင်အုပ်စုတိုင်းအဖို့ (ကိုးကွယ်ဆည်းကပ်ရန်) ပညတ်တရားတစ်ခုကို သတ်မှတ်ပြဋ္ဌာန်း၍ ပေးတော်မူခဲ့ရာ*[၁] ၎င်းတို့သည် ယင်း ပညတ်တရားနှင့် အညီ ကိုးကွယ်ဆည်းကပ်လိုက်နာသူများ ဖြစ်ခဲ့ကြကုန်၏။

---

(၁) "ဒီန်" သာသာနာနှင့် "ရှရီအတ်" ကျင့်ထုံး။

ပွင့်လေသမျှသော တမန်တော်အပေါင်းတို့၏ "ဒီန်" သာသနာသည် တစ်ခုတည်းသာ ဖြစ်သည်။ သို့ရာတွင် အလ္လာဟ်အရှင်မြတ်သည် သာသနာဝင်အုပ်စုများအဖို့ ခေတ်အမျိုးမျိုးတွင် ခဝပ်ကိုးကွယ်ရန် နည်းနာနိသျှည်း၊ကျင့်ထုံး ကျင့်နည်းများကို ခေတ်ပတ်ဝန်းကျင် အခြေအနေအရ အမျိုးမျိုးအစားစား သတ်မှတ်ပြဋ္ဌာန်းပေးတော်မူခဲ့လေသည်။ ယင်းသည့် သာသနာဝင်အုပ်စု အသီးသီးတို့သည်လည်း ထိုသည်ကျင့်ထုံးကျင့်နည်းများနှင့်အညီ လိုက်နာကျင့်မူခဲ့ကြပေသည်။

အလ္လာဟ်အရှင်မြတ်သည် တမန်တော်မြတ် မုဟမ္မဒ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစ္စလ္လမ်)၏ အုပ်စုအဖို့လည်း ကမ္ဘာတစ်သက် ခဝပ်ကိုးကွယ်ရန်အတွက် ရှရီအတ်ကျင့်ထုံးကို သီးသန့်သတ်မှတ်ပြဋ္ဌာန်းထားတော်မူသည်၊➢➢

لَعَلٰى هُدًى مُّسْتَقِيْمٍ ﴿٦٧﴾

သို့ဖြစ်ပေရာ (ဤသူတို့သည်) ယင်းအရေးကိစ္စ၌ အသင်နှင့်ငြင်းခုံခြင်းကို မပြုကြရာချေ။ ၎င်းပြင် အသင်သည်(လည်း) မိမိအား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်ဘက်သို့(၎င်းတို့အား) ဖိတ်ခေါ်လျက်ရှိပါလေ။ ဧကန်မလွဲ အသင်သည် ဖြောင့်မတ်မှန်ကန်သော တရားလမ်းစဉ်ပေါ်၌ တည်ရှိပေသည်။

وَاِنْ جٰدَلُوْكَ فَقُلِ اللّٰهُ اَعْلَمُ بِمَا تَعْمَلُوْنَ ﴿٦٨﴾

၆၈။ သို့ရာတွင် အကယ်၍၎င်းတို့သည် အသင်နှင့် အငြင်းအခုံပြုခဲ့ကြသည်ရှိသော် အသင်သည် (၎င်းတို့အား ဤသို့)ပြောဆိုပြန်ကြားပါလေ။ (အချင်းတို့၊ ဧကန်စင်စစ်)အလ္လာဟ်အရှင်မြတ်သည် အသင်တို့၏ အပြုအမူတို့ကို ကောင်းစွာ သိရှိတော်မူသောအရှင်မြတ်ပင် ဖြစ်တော်မူ၏။

اَللّٰهُ يَحْكُمُ بَيْنَكُمْ يَوْمَ الْقِيٰمَةِ فِيْمَا كُنْتُمْ فِيْهِ تَخْتَلِفُوْنَ ﴿٦٩﴾

၆၉။ အလ္လာဟ်အရှင်မြတ်သည် အသင်တို့အကြားဝယ် "ကိယာမတ်" ရှင်ပြန်ထမည့်နေ့တွင် အသင်တို့ ကွဲလွဲလျက်ရှိခဲ့ကြသော အရေးကိစ္စများနှင့်စပ်လျဉ်း၍ (လက်တွေ့)စီရင် ဆုံးဖြတ်တော်မူအံ့သတည်း။

➤➤ 'ရှရီအတ်'ကျင့်ထုံးသည် အဘယ်မျှပင် ကွဲပြားလင့်ကစား "ဒီန်"သာသနာသည်ကား တစ်ခုတည်းသာဖြစ်ခဲ့ပေသည်။ မကွဲပြားခဲ့ပေ။ အလ္လာဟ်အရှင်မြတ်မှတစ်ပါး အခြားကို ခဝပ်ကိုးကွယ်ရန် မည်သည့် ရှရီအတ်တွင်မျှ သတ်မှတ်ခဲ့သည်မရှိပေ။ ထို့အတွက် ရှရီအတ်တိုင်းတွင် တညီတညွတ်တည်း သတ်မှတ်ပြဋ္ဌာန်းထားသော "တောင်ဟီဒ်" နှင့် အခြား သာသနာရေးရာများတွင် မည်သူမျှ မငြင်းခုံသင့်ပေ။ ငြင်းခုံရန်လည်း အကြောင်းမရှိပေ။ သို့ပါလျက် တမန်တော်မြတ်အား အငြင်းအခုံပြုလာပါက တမန်တော်မြတ်သည် ဖြောင့်မတ်မှန်ကန်သော တရားလမ်းစဉ်ပေါ်၌ တည်ရှိနေသည်ဖြစ်ပေရာ လူသားတို့အား အလ္လာဟ်အရှင်မြတ်၏ သာသနာတော်ဘက်သို့သာ ဖိတ်ခေါ်လျက်ရှိနေရပေမည်။

အကြောင်းမဲ့ငြင်းခုံနေသောသူများ၏ အရေးကို အလ္လာဟ်အရှင်မြတ်ထံ လွှဲအပ်ထားရန်သာရှိသည်။ အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့ပြောဆိုပြုမူသမျှတို့ကို အကြွင်းမဲ့သိတော်မူသည်၊ ကိယာမတ်နေ့တွင် ၎င်းတို့ငြင်းခုံနေကြသောအရာများနှင့် စပ်လျဉ်း၍ လက်တွေ့အဆုံးအဖြတ်ပေးတော်မူမည်ဖြစ်သည်။ တရားဓမ္မဟောကြားရန် တာဝန်ကျေပွန်ပြီးသည့်နောက်ပိုင်းတွင် တမန်တော်မြတ်သည် ၎င်းတို့နှင့်ပတ်သက်၍ စိတ်ဒုက္ခခံနေရန် မလိုပေ။ ၎င်းတို့၏ဆေးသည် အလ္လာဟ်အရှင်မြတ်ထံတော်၌ရှိသည်။ အချို့ မုဖတ်စ်စီရ်များက ဤအာယတ်တော်တွင် လာရှိသော "မန်စတ်က်" ဟူသောပုဒ်ကို "ဇဗ်ဟ်" လိုးဖြတ်ရန်နည်း ဟူ၍ အနက်ကောက်ယူကြသည်။ သို့ရာတွင် အထက်ပါအဆိုမှာ ပိုမိုသင့်မြတ်လှပေသည်။

اَلَمۡ تَعۡلَمۡ اَنَّ اللّٰهَ يَعۡلَمُ مَا فِى السَّمَآءِ وَالۡاَرۡضِ‌ؕ اِنَّ ذٰلِكَ فِىۡ كِتٰبٍ‌ؕ اِنَّ ذٰلِكَ عَلَى اللّٰهِ يَسِيۡرٌ ﴿۷۰﴾

၇၀။ ကေန်အမှန် အလ္လာဟ်အရှင်မြတ်သည် မိုးကောင်းကင်၌ရှိသမျှတို့ကိုလည်းကောင်း၊ ပထဝီမြေ၌ရှိသမျှတို့ကိုလည်းကောင်း၊ (အကြွင်းမဲ့)သိရှိတော်မူသည်ကို အသင်မသိလေသလော။ ကေန်စင်စစ် ထို(အရာများ)သည် မှတ်တမ်းတွင်ရှိပေသည်။ ကေန်မလွဲအလ္လာဟ်အရှင်မြတ်အဖို့ ယင်း(အဆုံးအဖြတ်)ကား လွယ်ကူလှပေသတည်း။ [၁]

وَيَعۡبُدُوۡنَ مِنۡ دُوۡنِ اللّٰهِ مَا لَمۡ يُنَزِّلۡ بِهٖ سُلۡطٰنًا وَّمَا لَيۡسَ لَهُمۡ بِهٖ عِلۡمٌ‌ؕ وَمَا لِلظّٰلِمِيۡنَ مِنۡ نَّصِيۡرٍ ﴿۷۱﴾

၇၁။ စင်စစ်သော်ကား ၎င်းတို့သည် အလ္လာဟ်အရှင်မြတ်အား စွန့်၍ အကြင်အရာများကို ကိုးကွယ်ဆည်းကပ်ကြကုန်၏။ ထိုအရှင်မြတ်သည် ယင်းအရာများ(ကို ကိုးကွယ်နိုင်ခွင့်ရှိကြောင်းနှင့် စပ်လျဉ်း၍) *မည်သည့် သက်သေခံ တစ်စုံတစ်ရာကိုမျှ ချပေးတော်မူခဲ့သည်မရှိပေ။ ယင်းအရာများ(ကို ကိုးကွယ်ဆည်းကပ်မှု)နှင့် စပ်လျဉ်း၍ ၎င်းတို့၌ မည်သည့် အသိပညာ အထောက်အထား တစ်စုံတစ်ရာမျှလည်း မရှိချေ။* [၂] ၎င်းပြင် မတရားသောသူတို့အား *ကူညီစောင့်မမည့်သူ ဟူ၍လည်း တစ်ဦးတစ်ယောက်မျှ ရှိလိမ့်မည် မဟုတ်ပေ။* [၃]

---

(၁) လွန်ခဲ့သော အာယတ်တော်တွင် ကိယာမတ်နေ့၌ အလ္လာဟ်အရှင်မြတ်သည် လက်တွေ့ အဆုံးအဖြတ်ပေးတော်မူမည့် အကြောင်း ပါရှိ၏။ ဤအာယတ်တော်တွင် အလ္လာဟ်အရှင်မြတ်သည် အရာခပ်သိမ်းကုန်တို့ကို အကြွင်းမဲ့သိတော်မူသည်သာမက ဖြစ်ပျက်သမျှသော အရာခပ်သိမ်းတို့သည်လည်း မှတ်တမ်းတော်၌ မှတ်သားထားပြီးဖြစ်ရာ အဆုံးအဖြတ်ပေးရန်ကိစ္စမှာ အလ္လာဟ်အရှင်အဖို့ လွယ်ကူလှသည့်အကြောင်းကို အထောက်အထားအဖြစ် မိန့်ဆိုထားတော်မူသည်။

(၂) **ကာဖိရ်များ၏ မိရိုးဖလာ ထုံးတမ်းစဉ်လာ။**

ကာဖိရ်၊ မုရှ်ရစ်က်များသည် မိရိုးဖလာ ထုံးတမ်းစဉ်လာများကိုသာ ဇွတ်မှိတ်လိုက်နာ၍ အလ္လာဟ်အရှင်မြတ်အား စွန့်လွှတ်ကာ မိမိတို့ကိုယ်တိုင် ပြုလုပ်ထားသော ကိုးကွယ်ရာများကို ဆည်းကပ်ကိုးကွယ်နေကြပေသည်။ ယင်း ကိုးကွယ်ရာများသည် အမှန်တကယ် ကိုးကွယ်အပ်သော အရာများဖြစ်ကြောင်းနှင့်စပ်လျဉ်း၍ အလ္လာဟ်အရှင်မြတ်ကလည်း တစ်စုံတစ်ရာ သက်သေခံ အထောက်အထားကို ချပေးတော်မူသည်မရှိ။ ၎င်းတို့ ထံ၌လည်း တစ်စုံတစ်ရာ အထောက်အထားမရှိ၊ မိရိုးဖလာထုံးတမ်းစဉ်လာကို ဇွတ်မှိတ်လိုက်နာနေကြခြင်းသာ ဖြစ်ပေသည်။

وَإِذَا تُتْلَىٰ عَلَيْهِمْ آيَاتُنَا
بَيِّنَاتٍ تَعْرِفُ فِي وُجُوهِ
الَّذِينَ كَفَرُوا الْمُنكَرَ ۖ
يَكَادُونَ يَسْطُونَ بِالَّذِينَ
يَتْلُونَ عَلَيْهِمْ آيَاتِنَا ۗ قُلْ
أَفَأُنَبِّئُكُم بِشَرٍّ مِّن ذَٰلِكُمُ ۗ
النَّارُ وَعَدَهَا اللَّهُ الَّذِينَ
كَفَرُوا ۖ وَبِئْسَ الْمَصِيرُ ٧٢

၇၂။ ထို့ပြင် ၎င်းတို့ရှေ့ဝယ် ငါအရှင်မြတ်၏ ထင်ရှားသော အာယတ်တော်များကို ဖတ်ကြားသော အခါ အသင်သည် ကာဖိရ် သွေဖည်ငြင်းပယ်ကြသောသူတို့၏မျက်နှာများတွင် မနှစ်မြို့မှု၊ သွေဖည်ငြင်းဆန်မှုကို တွေ့မြင်ရပေမည်။ ၎င်းတို့သည် မိမိတို့ရှေ့ဝယ် ငါအရှင်မြတ်၏ အာယတ်တော်များကို ဖတ်ကြားသူတို့အား (ကိုယ်ထိလက်ရောက်) တိုက်ခိုက်လုနီးနီး *ဖြစ်ကုန်ကြပေသည်။* ၁

(အိုး-နဗီတမန်တော်) အသင်သည် (၎င်းတို့အား ဤသို့)ပြောကြားပါလေ။ (အချင်းတို့) သို့ဖြစ်မူ ငါသည် အသင်တို့အား ထို့ထက်ပင်ပိုမိုဆိုးရွားလှသောအရာကို ကြားသိစေရမည်လော။ (ထိုအရာကား ငရဲ)မီးပင်။ အလ္လာဟ်အရှင်မြတ်သည် ကာဖိရ်သွေဖည်ငြင်းပယ်သောသူတို့အား ယင်းမီး(ထဲသို့ လားစေတော်မူမည်)ကို ချိန်းချက်ထားတော်မူခဲ့လေသည်။ စင်စစ်သော်ကား ယင်းငရဲမီးသည် အလွန်ဆိုးရွားလှသော ပြန်လည်ရာဌာနပင် ဖြစ်ချေသတည်း။ ၂

---

(၂) **ကာဖိရ်များ ခိုကိုးရာမဲ့ဖြစ်ကြရမည်။**

အမှန်မှာ ကာဖိရ်၊ မုရှ်ရက်စ်များသည် အလ္လာဟ်အရှင်မြတ်အား စွန့်လွှတ်၍ အဓိပ္ပါယ်မရှိသော အရာများကို ဆည်းကပ် ကိုးကွယ်ကြပြီး၊ မိမိတို့ကိုယ်ကို မိမိတို့ကိုယ်တိုင် နှိပ်စက်နေသောသူများသာ ဖြစ်ကြပေသည်။ ၎င်းတို့၏ကိုးကွယ်ရာများသည် ၎င်းတို့အား ကူညီနိုင်ရန်ဝေးစွ၊ မိမိတို့ကိုယ်ကိုပင် မိမိတို့ မကာကွယ်နိုင်ကြပေ။ သို့ဖြစ်ရာ ကာဖိရ်၊ မုရှ်ရစ်က်များသည် ခိုကိုးရာမဲ့ဖြစ်ကြရမည်။

(၁) **ကာဖိရ်များ မျက်နှာမသာ။**

ကာဖိရ်များ၊ မုရှ်ရစ်က်များရှေ့မှောက်တွင် အလ္လာဟ်အရှင်မြတ်၏ ထင်ရှားပြတ်သားသော အာယတ်တော်များ ရွတ်ဖတ်သည့်အခါ ကာဖိရ်၊ မုရှ်ရစ်က်များသည် "အနာပေါ်တုတ်ကျ" ဖြစ်ကာ မျက်နှာပျက်ကြပေသည်၊ ဒေါသအမျက် ထွက်ကြပေသည်။ မိမိတို့၏ ဒေါသအမျက်ကို မချုပ်တည်းနိုင်ဘဲ၊ ဤအာယတ်တော် ရွတ်ဖတ်သူများကိုပင် ရိုက်ပုတ်သတ်ဖြတ်လုနီးနီး ဖြစ်သွားကြပေသည်။ တစ်ခါတစ်ရံ ကာယကံမြောက်ပင် ကျူးလွန်ကြပေသည်။

يَآيُّهَا النَّاسُ ضُرِبَ مَثَلٌ فَاسْتَمِعُوا لَهٗ ؕ اِنَّ الَّذِيْنَ تَدْعُوْنَ مِنْ دُوْنِ اللّٰهِ لَنْ يَّخْلُقُوْا ذُبَابًا وَّلَوِ اجْتَمَعُوْا لَهٗ ؕ وَاِنْ يَّسْلُبْهُمُ الذُّبَابُ شَيْـًٔا لَّا يَسْتَنْقِذُوْهُ مِنْهُ ؕ ضَعُفَ الطَّالِبُ وَالْمَطْلُوْبُ ﴿٧٣﴾

၇၃။ အို-လူခပ်သိမ်းတို့၊ ဥပမာ ပုံဆောင်ချက်တစ်ခုကို ခိုင်းနှိုင်းမည်ဖြစ်ရာ အသင်တို့သည် ယင်းဥပမာပုံဆောင်ချက်ကို (ကောင်းစွာ) နားထောင်ကြလေကုန်။ မုချဧကန် အလ္လာဟ်အရှင်မြတ်အားစွန့်၍ အသင်တို့ ဟစ်ခေါ်(တသ ဆည်းကပ် ကိုးကွယ်လျက် ရှိ)ကြသောအရာများမှာ ၎င်းတို့အားလုံး(တစ်စည်း တစ်လုံးတည်း) စုရုံး(ကြိုးပမ်းအားထုတ်)ကြသည့်တိုင်အောင် ယင်ကောင်တစ်ကောင်ကိုမျှပင် အလျှင်း ဖန်ဆင်းနိုင်ကြမည် မဟုတ်ပေ။

ထိုမှတစ်ပါး အကယ်၍ ထိုယင်ကောင်သည် ၎င်းတို့ထံမှ တစ်စုံတစ်ရာကို လုယူပါလျှင်(သုတ်သွားပါလျှင်)၎င်းတို့သည် ယင်းအရာကိုပင် ထိုယင်ကောင်၏ထံမှ ပြန်လုယူနိုင်ကြမည် မဟုတ်ချေ။ ရှာဖွေဆည်းပူး (ကိုးကွယ်ဆည်းကပ်)သောသူနှင့် ရှာဖွေဆည်းပူး (ကိုးကွယ်ဆည်းကပ်)ခြင်း ခံရသောသူတို့သည် အားနည်းချိနဲ့ကြပေတကား။

مَا قَدَرُوا اللّٰهَ حَقَّ قَدْرِهٖ ؕ اِنَّ اللّٰهَ لَقَوِیٌّ عَزِيْزٌ ﴿٧٤﴾

၇၄။ ၎င်းတို့သည် အလ္လာဟ်အရှင်မြတ်အား ရိုသေကိုင်းရှိုင်းရန်တာဝန်ရှိသည်နှင့်အညီ ရိုသေကိုင်းရှိုင်းကြသည် မဟုတ်ပေ။ ဧကန်မလွဲ အလ္လာဟ်အရှင်မြတ်သည် ခွန်အားပြည့်စုံတော်မူသော၊ တန်ခိုးအာနုဘော်ဖြင့် လွှမ်းမိုးတော်မူသောအရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

---

(၂) ကာဖိရ်၊ မုရှ်ရစ်က်များသည် ၎င်းတို့၏အမှားကို ထောက်ပြကာ အာယတ်တော်များကို ကြားကြရသောအခါ အကြီးအကျယ် ဒေါသဖြစ်ကြသည်။ စိတ်နာကြသည်။ သို့ရာတွင် ၎င်းတို့ သိထားအပ်သည်မှာ ၎င်းတို့အဖို့ ထို့ထက်ပင် ပိုမိုဆိုးရွားသောအရာ ရှိပေသေးသည်။ ထိုအရာကား ငရဲမီးပင်ဖြစ်သည်။ အဆိုးရွားဆုံးသောလားရာဌာနပင်ဖြစ်သည်။ သို့ဖြစ်ရာ ကာဖိရ်များသည် ကုရ်အာန်ကို ငြင်းပယ်၍ ငရဲဒဏ်ခံကြမည်လော၊ သို့တည်းမဟုတ် ကုရ်အာန်ကို လက်ခံ၍ ငရဲဒဏ်မှ လွတ်မြောက်ကြမည်လော၊ ဤသည့်အချက်ကို အချိန်မီဆင်ခြင်၍ ကြိုက်နှစ်သက်ရာ လမ်းစဉ်ကို ရွေးချယ်သင့်ကြပေပြီ။

၇၅။ အလ္လာဟ်အရှင်မြတ်သည် “မလာအိကဟ်” ကောင်းကင်တမန်တို့အနက်မှလည်းကောင်း၊ လူတို့အနက်မှလည်းကောင်း၊ စေတမန်များ(တမန်တော်များ)ကို ရွေးချယ်တော်မူခဲ့၏။ ဧကန်စင်စစ် အလ္လာဟ်အရှင်မြတ်သည် အကြွင်းမဲ့ကြားတော်မူသော ကောင်းစွာ မြင်တော်မူသောအရှင်မြတ်ပင် ဖြစ်တော်မူ၏။[၁]

ٱللَّهُ يَصْطَفِى مِنَ ٱلْمَلَٰٓئِكَةِ رُسُلًا وَمِنَ ٱلنَّاسِ ۚ إِنَّ ٱللَّهَ سَمِيعٌۢ بَصِيرٌ ٧٥

၇၆။ ထိုအရှင်မြတ်သည် ၎င်းတို့၏ ရှေ့နောက် အဖြစ်အပျက် အလုံးစုံတို့ကို ( အကြွင်းမဲ့ ) သိရှိတော်မူပေသည်။ စင်စစ်သော်ကား အရေးကိစ္စ အဝဝတို့မှာ အလ္လာဟ်အရှင်မြတ် အထံတော်သို့ပင် ပြန်လည်ရောက်ရှိကြမည်သာတည်း။

يَعْلَمُ مَا بَيْنَ أَيْدِيهِمْ وَمَا خَلْفَهُمْ ۗ وَإِلَى ٱللَّهِ تُرْجَعُ ٱلْأُمُورُ ٧٦

၇၇။ အို-“မုအ်မင်န်”သက်ဝင်ယုံကြည်သူ အပေါင်းတို့၊ အသင်တို့သည် မိမိတို့ အောင်မြင်ကြအံ့သောငှာ “ရုကုအ်”ဦးညွတ်(၍ နေ)ကြလေကုန်။ ထို့ပြင် အသင်တို့သည် “စဂ်ျဒဟ်” ပျပ်ဝပ်ဦးချ(၍ နေ)ကြလေကုန်။ ၎င်းပြင် အသင်တို့သည် မိမိတို့ကို ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်အား ခဝပ်ကိုးကွယ်(၍ နေ)ကြလေကုန်။ထိုမှတစ်ပါးအသင်တို့သည် ကောင်းမြတ်သော အမှုကိစ္စများကိုလည်း ပြုလုပ်(၍ နေ)ကြလေကုန်။ [၂]

يَٰٓأَيُّهَا ٱلَّذِينَ ءَامَنُوا۟ ٱرْكَعُوا۟ وَٱسْجُدُوا۟ وَٱعْبُدُوا۟ رَبَّكُمْ وَٱفْعَلُوا۟ ٱلْخَيْرَ لَعَلَّكُمْ تُفْلِحُونَ ۩ ٧٧

---

(၁) **လူသားနှင့်ကောင်းကင်တမန်များအား စေတမန်အဖြစ် ခန့်အပ်တော်မူခြင်း။**

အထက်တွင် “ရှရ်စ်က်”၏ မှားယွင်းခြင်းနှင့် “တောင်ဟီဒ်” ၏ မှန်ကန်ခြင်းအကြောင်းများ ပါရှိ၏။ ဤအာယတ်တော်တွင် “ရိစာလတ်” တမန်တော်ဖြစ်ခြင်း၏ အကြောင်းကို မိန့်ဆိုထားတော်မူသည်။

မုရှ်ရစ်က်များက တမန်တော်တစ်ပါးသည် ကောင်းကင်တမန်သာဖြစ်သင့်သည်။ ယခုမူ (တမန်တော်မြတ်) မုဟမ္မဒ်(ဆွာလ္လလ္လာဟု အလိုင်ဟိဝစ္စလ္လမ်)သည် လူသားတစ်ဦးဖြစ်နေပေသည်၊ လူသားတစ်ဦးဖြစ်ရာတွင်လည်း တန်ခိုး၊ ဂုဏ်သိမ် မရှိပေရာ၊ အသို့လျှင် တမန်တော် ဖြစ်နိုင်အံ့နည်းဟု ဆိုခဲ့ကြသည်။ဤအာယတ်တော်တွင် ယင်းသို့သော မုရှ်ရစ်က်တို့၏စကားကို ရည်ညွှန်းမိန့်ဆိုထားတော်မူသည်။

အလ္လာဟ်အရှင်မြတ်သည် အကြွင်းမဲ့ ကြားတော်မူသောအရှင်၊ အရာရာကို သိမြင်တော်မူသော➢➢

وَجَاهِدُوا فِي اللَّهِ حَقَّ جِهَادِهِ ۚ هُوَ اجْتَبَاكُمْ وَمَا جَعَلَ عَلَيْكُمْ فِي الدِّينِ مِنْ حَرَجٍ ۚ مِّلَّةَ أَبِيكُمْ إِبْرَاهِيمَ ۚ هُوَ سَمَّاكُمُ الْمُسْلِمِينَ مِن قَبْلُ وَفِي هَٰذَا لِيَكُونَ الرَّسُولُ

**၇၈။** ၎င်းပြင် အသင်တို့သည် အလ္လာဟ်အရှင်မြတ်၏ (သာသနာတော် အရေးတွင်) ထိုအရေးကိစ္စ၌ သက်စွန့်ကြိုးပမ်းဆောင်ရွက်ရန် တာဝန်ရှိသည်နှင့် အညီ *သက်စွန့်ကြိုးပမ်း ဆောင်ရွက်(၍ နေ)ကြလေကုန်။* [၁] ထိုအရှင်မြတ်သည် *အသင်တို့အား ရွေးချယ်တော်မူခဲ့ပေသည်။* [၂] ၎င်းပြင် ထိုအရှင်မြတ်သည် အသင်တို့၏ ဖခင် (နဗီတမန်တော်) အီဗ်ရာဟီမ်၏ သာသနာ [၃] နည်းတူအသင်တို့အပေါ်၌လည်း "ဒီန်" သာသနာတော်၌ မည်သည့် ကျပ်တည်းခဲယဉ်းမှု တစ်စုံတစ်ရာကိုမျှပင် ပြုတော်မမူခဲ့ချေ။

---

➤➤ အရှင် ဖြစ်တော်မူသည်။ မည်သူမည်ဝါတို့အား မည်သည့်တာဝန် ပေးသင့်ပေးအပ်သည်ကို ထိုအရှင်မြတ် အသိဆုံးပင်။ ကြည့်-ကုရ်အာန်(၆း၁၂၅)။

ထိုအရှင်မြတ် ပြုစီရင်တော်မူသော အရာများနှင့်စပ်လျဉ်း၍ မည်သူ၌မျှ စေဒနာ တက်ပိုင်ခွင့်လည်း မရှိပေ။ ကြည့်-ကုရ်အာန်(၂၁း၂၃)။

ဤအကြောင်းနှင့်စပ်လျဉ်း၍ ကုရ်အာန်(၆း၁၂၅)၏အဖွင့်တွင် အကျယ်ရေးသားခဲ့ပေပြီ။ ပြန်လည်ရှုပါကုန်။

(၂) အထက်တွင် "တောင်ဟီဒ်"၊ "ရိစာလတ်"၊ "ကိယာမတ်" စသည့် အစ္စလာမ်၏အခြေခံများကို မိန့်ဆိုထားတော်မူသည်။ ယခု ဤအာယတ်တော်တွင် မွတ်စ်လင်မ်များအား နှစ်ဘဝစလုံးတွင် အောင်မြင်နိုင်ကြရန်အလို့ငှာ အမြဲတစေ တစ်ဆူတည်းဖြစ်တော်မူသော အလ္လာဟ်အရှင်မြတ်အားသာလျှင် ဆည်းကပ်ကိုးကွယ်လျက် ရှိကြရမည့် အကြောင်း၊ ထိုအရှင်မြတ်၏ ရှေ့တော်၌သာလျှင် ဦးညွှတ်ခြင်း၊ ဦးချခြင်းများကို ပြုလုပ်လျက်ရှိကြရမည့် အကြောင်းနှင့် အခြားအခြားသော ကောင်းမှုများကိုလည်း ထိုအရှင်မြတ်အားသာ ရည်စူးကာ ပြုလုပ်လျက်ရှိကြရမည့် အကြောင်း၊ မိန့်ဆိုထားတော်မူသည်။

(၁) မွတ်စ်လင်မ်တို့သည် မိမိတို့ကိုယ်ကို ပြုပြင်ရန်အတွက်လည်းကောင်း၊ ကမ္ဘာ့လူသားတို့အား ပြုပြင်ရန်အတွက် လည်းကောင်း၊ (မုဂျာဟဒဟ်)ဂျိဟာဒ် ကိုယ်စွမ်းရှိသမျှ၊ ဉာဏ်စွမ်းရှိသမျှ သက်စွန့်ကြိုးပမ်းဆောင်ရွက်ကြရမည်။ လူသားတို့သည် ဤသင်္ချိုင်းရပစ္စက္ခ အကျိုးငှာ အဘယ်မျှ သက်စွန့်ကြိုးပမ်းဆောင်ရွက်ကြသည်ကို လူတိုင်း အသိပင်။

သို့ဖြစ်ပေရာ အစ္စလာမ့်အရေး၊ နောင်တမလွန်ဘဝ၏ ထာဝရအောင်မြင်ရေးတွင်မူ ပို၍ပင် သက်စွန့် ကြိုးပမ်း ဆောင်ရွက်ကြရပေမည်။

(၂) **<u>အစ္စလာမ်၌ ခဲယဉ်းမှုမရှိ။</u>**

အစ္စလာမ်သည် ကမ္ဘာ့သာသနာဖြစ်သည်။ အစ္စလာမ်၌ ခဲယဉ်းမှုအလျှင်းမရှိ။ အသွေးအရောင်ခွဲခြားမှု၊ မျိုးနွယ်ခွဲခြားမှု၊ ပထဝီခွဲခြားမှု၊ ဇာတ်နိမ့်၊ ဇာတ်မြင့် အလျှင်းမရှိ။ ဤသာသနာသည် ခေတ်တိုင်း၊ လူမျိုးတိုင်း၊ လူတိုင်းအဖို့ ဖြစ်သည်။ အခါမရွေး၊ ဌာနမရွေး ကျင့်သုံးနိုင်သည်။ 

شَهِيدًا عَلَيْكُمْ وَتَكُونُوا شُهَدَآءَ عَلَى النَّاسِ ۚ فَأَقِيمُوا الصَّلَوٰةَ وَءَاتُوا الزَّكَوٰةَ وَاعْتَصِمُوا بِاللَّهِ هُوَ مَوْلَىٰكُمْ ۖ فَنِعْمَ الْمَوْلَىٰ وَنِعْمَ النَّصِيرُ ﴿٧٨﴾

ရစူလ်တမန်တော်မြတ်(မုဟမ္မဒ်)သည် အသင်တို့နှင့် ပတ်သက်၍ အသိသက်သေ ဖြစ်အံ့သောငှာလည်းကောင်း၊ အသင်တို့သည်လည်း လူခပ်သိမ်းတို့နှင့်ပတ်သက်၍ *အသိသက်သေများ ဖြစ်ကြအံ့သောငှာလည်းကောင်း၊* [၁] ထိုအရှင်မြတ်သည်ပင် အသင်တို့အား ယခင်ကလည်း (မွတ်စ်လင်မ်များဟူ၍ အမည်ပညတ်တော်မူခဲ့ပေသည်။) (ယခု) ဤ(ကုရ်အာန်ကျမ်းတော်မြတ်)တွင်လည်း *"မွတ်စ်လင်မ်"များဟူ၍ပင် အမည်ပညတ်ထားတော်မူလေသည်။* [၂]

---

➤➤ အလ္လာဟ်အရှင်မြတ်သည် ဤသည့် အစ္စလာမ်ကို ကမ္ဘာအဝှန်းသို့ ပြန့်ပွားစေရန်အတွက် ကမ္ဘာ့အုပ်စုအသီးသီးတို့အနက် တမန်တော်မြတ်လက်ထက်ရှိ မွတ်စ်လင်မ်တို့အား ရွေးချယ်တော်မူခဲ့လေသည်။ဤသည်ယင်း မွတ်စ်လင်မ်တို့အဖို့ ဂုဏ်ယူဖွယ်တစ်ရပ်ပင်။

## ⑦ အစ္စလာမ်သည် တမန်တော် အီဗ်ရာဟီမ်၏ သာသနာပင်။

ဤအာယတ်တော်တွင် "အသင်တို့၏ ဖခင် အီဗ်ရာဟီမ်၏ သာသနာ" ဟူသော ဝါကျ၌ပါရှိသော "အသင်တို့"ဟူသော နာမ်စားသည် အသူအား ရည်ညွှန်းသနည်း။

(၁) တမန်တော်မြတ် မုဟမ္မဒ်(ဆွလ္လလ္လာဟု အလိုင်ဟိ ဝစ္စလ္လမ်)၏ အွမ္မတ်ကို ရည်ညွှန်းသည်ဟုလည်း ဆိုနိုင်သည်။

(၂) အရဗ်အမျိုးသားတို့အား ရည်ညွှန်းသည်ဟုလည်း ဆိုနိုင်သည်။

အဘယ်ကြောင့်ဆိုသော် တမန်တော် အီရာဟီမ်သည် တမန်တော်မြတ်၏ ဘိုးဘေးတို့တွင် ပါဝင်နေပေရာ တမန်တော်မြတ်၏ အွမ္မတ်နောက်လိုက်တပည့်သားတို့၏ ဖခင်ကြီးလည်း ဖြစ်နေပေသည်။ သို့ဖြစ်ရာ ဤအာယတ်တော်တွင် လာရှိသည့် "အသင်တို့" ဟူသော နာမ်စားသည် တမန်တော်မြတ်၏ အွမ္မတ်အားရည်ညွှန်းသည်ဟုလည်း ဆိုနိုင်ပေသည်။ တစ်နည်း-အရဗ်လူမျိုးတို့သည် ကုရ်အာန်ကျမ်းမြတ်ကို ဦးစွာပထမကြားနာခဲ့ကြရသည်ဖြစ်ရာ၊ ဤ အာယတ်တော်တွင် ပါရှိသည့် "အသင်တို့" ဟူသော နာမ်စားသည် အရဗ်အားရည်ညွှန်းသည်ဟုလည်း ဆိုနိုင်ပေသည်။

## ⑧ မွတ်စ်လင်မ်တို့အား ရွေးချယ်မြှောက်စားတော်မူခြင်း၏ရည်ရွယ်ချက်။

အလ္လာဟ်အရှင်မြတ်သည် မွတ်စ်လင်မ်တို့အား ယင်းသို့ ရွေးချယ်မြှောက်စားတော်မူခြင်းမှာ တမန်တော်မြတ်က မွတ်စ်လင်မ်တို့အား သင်ကြားပြသတော်မူရန် မွတ်စ်လင်မ်တို့က ကမ္ဘာအဝှန်းအား တစ်ဆင့်သင်ကြားပြသနိုင်ရန်ပင်ဖြစ်သည်။ တစ်နည်းဆိုရသော် မွတ်စ်လင်မ်တို့အား ဤမျှကြီးမားလှသော ဂုဏ်ထူးဆောင်ဘွဲ့နာမည်ဖြင့် ချီးမြှင့်မြှောက်စားတော်မူခြင်းမှာ မွတ်စ်လင်မ်တို့သည် ကမ္ဘာတွင် ကမ္ဘာ့အာစရိယရှေ့ဆောင်လမ်းပြဖြစ်၍ ကမ္ဘာ အိမ်ထောင်စုကြီးအား အစ္စလာမ်၏ အမှန်တရားကို ဟောညွှန်ပြရာတွင် သက်စွန့်ကြိုးပမ်းဆောင်ရွက်ကြရန်ပင်တည်း။

သို့ဖြစ်ပေရာ အသင်တို့သည် "ဆွလာတ်" ဝတ်ပြုမှုကို ဆောက်တည်ကြလေကုန်။ ၎င်းပြင် အသင်တို့သည် "ဇကာတ်" ကိုလည်း ပေးဆောင်ကြလေကုန်။ ၎င်းပြင် အသင်တို့သည် (မိမိတို့ အရေးကိစ္စတို့တွင်) အလ္လာဟ်အရှင်မြတ်အားသာလျှင် စွဲမြဲစွာ ဆုပ်ကိုင်ထားကြလေကုန်။

ထိုအရှင်မြတ်သည်ပင် အသင်တို့၏ကိစ္စအဝဝကို ပြီးစီးအောင် ဆောင်ရွက်ပေးတော် မူသောအရှင် ဖြစ်တော်မူ၏။ သို့ဖြစ်ပေရာ (ထိုအရှင်မြတ်သည်) အဘယ်မျှလောက် ကောင်းမြတ်လှသော၊ ကိစ္စအဝဝကို ပြီးစီးအောင် ဆောင်ရွက်ပေးတော်မူသော အရှင် ဖြစ်တော်မူပါဘိသနည်း၊ ၎င်းပြင် အဘယ်မျှလောက် ကောင်းမြတ်လှသော၊ ကူညီစောင်မတော်မူသောအရှင် ဖြစ်တော်မူဘိသနည်း။

## ⑵ "မွတ်စ်လင်မ်" ဟူသောအမည်။

အလ္လာဟ်အရှင်မြတ်သည် တမန်တော်မြတ် မုဟမ္မဒ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစ္စလ္လမ်)၏ "အွမ္မတ်" နောက်လိုက်တပည့်သားတို့အား အတိတ်ခေတ် ကျမ်းဂန်များတွင်လည်းကောင်း၊ ဤ ကုရ်အာန်ကျမ်းမြတ်တွင်လည်းကောင်း၊ "မွတ်စ်လင်မ်"ဟူ၍ အမည်ပေးထားတော်မူသည်။

အချို့ပညာရှင်များ၏ယူဆချက်အရ ဤသည့် "မွတ်စ်လင်မ်" ဟူသောအမည်ကို ယခင်က တမန်တော် အီဗ်ရာဟီမ်က ပေးခဲ့ခြင်းဖြစ်သည်။ အဘယ်ကြောင့်ဆိုသော် တမန်တော် အီဗ်ရာဟီမ်သည် အလ္လာဟ်အရှင်မြတ် အထံတော်၌ ဆုတောင်းရာတွင် "အိုး-ကျွန်တော်မျိုးတို့အား ဖန်ဆင်းမွေးမြူတော် မူသောအရှင်၊ အရှင်သည် ကျွန်တော်မျိုးတို့အား မိမိ၏အမိန့်တော်ကိုနာခံသူ မွတ်စ်လင်မ်နှစ်ဦး ပြုလုပ်ပေးတော်မူပါ၊ ၎င်းပြင် ကျွန်တော်မျိုးတို့၏ သားစဉ်မြေးဆက်ကိုလည်း မိမိ၏အမိန့်တော်နာခံသော မွတ်စ်လင်မ်အုပ်စု ပြုလုပ်ပေးတော်မူပါ"ဟု အမှတ်တရ ပန်ကြားခဲ့လေသည်။ ကြည့်-ကုရ်အာန်(၂း၁၂၈)။ ယင်းသို့ တမန်တော်အီဗ်ရာဟီမ်က ပန်ကြားခဲ့သည့်အတွက် ဤကုရ်အာန်ကျမ်းမြတ်တွင် ဤမည်သော "မွတ်စ်လင်မ်" ဟူသောအမည်သည် မည်တွင်လာခဲ့ခြင်း ဖြစ်တန်ရာသည်။

အသို့ပင်ဖြစ်စေကာမူ တမန်တော်မြတ်၏နောက်လိုက်တပည့်သားတို့၏အမည်မှာ "မွတ်စ်လင်မ်"ပင် ဖြစ်သည်။ အလ္လာဟ်အရှင်မြတ်အား ယုံကြည်မြတ်နိုး၍ ထိုအရှင်မြတ်၏ အမိန့်တော်များကို နာခံခဲ့သော အတိတ်ခေတ် အုပ်စုအသီးသီးတို့သည်လည်း မွတ်စ်လင်မ်များပင် ဖြစ်ခဲ့ကြပေသည်။ သို့တစေလည်း ဤ"မွတ်စ်လင်မ်" ဟူသောအမည်သည် တမန်တော်မြတ်၏ နောက်လိုက် တပည့်သားတို့အဖို့ သီးသန့် ဂုဏ်ထူးဆောင်ဘွဲ့နာမည် ဖြစ်နေပေရာ၊ မွတ်စ်လင်မ်တို့သည် မွတ်စ်လင်မ်ပီပီ ဤ"မွတ်စ်လင်မ်"ဟူသော ဂုဏ်ထူးကို ရိုသေလေးစားစွာ ထိန်းသိမ်း သင့်ကြပေသတည်း။

# ယုံကြည်သူများကဏ္ဍ

سُوْرَةُ الْمُؤْمِنُوْنَ

ဤကဏ္ဍသည် မုအ်မင်န် ယုံကြည်သူများအကြောင်း ပါဝင်သောကဏ္ဍဖြစ်သည်။
ဤကဏ္ဍသည် မက္ကာမြို့တော်၌ ထုတ်ပြန်ပို့ချတော်မူခဲ့သော ကဏ္ဍဖြစ်သည်။
ဤကဏ္ဍတွင်အာယတ်တော် (၁၁၈)ပါးနှင့် ရကူအ် အပိုဒ် (၇)ပိုဒ် အသီးသီးပါရှိသည်။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ

အနန္တဂရုဏာရှင် ဖြစ်တော်မူသော
အစဉ်သနားကြင်နာ ညှာတာတော်မူသော
အလ္လာဟ်အရှင်မြတ်၏နာမံတော်ဖြင့် အစပြုပါ၏။

قَدْ اَفْلَحَ الْمُؤْمِنُوْنَ ①

၁။ ကေနိမလွဲ (အကြင်) "မုအ်မင်န်" သက်ဝင်ယုံကြည်သူတို့သည် အောင်မြင်ခဲ့ကြချေပြီ။

الَّذِيْنَ هُمْ فِيْ صَلَاتِهِمْ خٰشِعُوْنَ ②

၂။ ထို("မုအ်မင်န်" သက်ဝင် ယုံကြည်)သူတို့သည် မိမိတို့ *ဆွလာတ်ဝတ်ပြုရာ၌ ကျိုးနွံသူများဖြစ်ကြကုန်၏။* ၁

---

**① (က) ဆွလာတ်ဝတ်ပြုရာတွင် ကျိုးနွံခြင်း၊**

"ခုရှုအ်"၏ အဓိပ္ပါယ်မှာ ကြောက်ရွံ့စွာဖြင့် ငြိမ်သက်စွာရှိခြင်း၊ စိတ်နိမ့်ကျခြင်း၊ နိဝါတ တရားရှိခြင်း၊ နူးညံ့သိမ်မွေ့ခြင်းဟုရသည်။ သာဝကကြီး အစ်ဗ်နုအဗ္ဗားစ်သခင်က ဤအာယတ်တော်လာ "ခါရှိအူန" ဟူသော ပုဒ်ကို (ခါအိဖူန၊ စာကိနူန) "ကြောက်ရွံ့သူများ၊ ငြိမ်သက်သူများ" ဟူ၍ အနက်ဖွင့်ဆိုခဲ့သည်။

ဆွလာတ်ဝတ်ပြုရာတွင် စိတ်နှလုံးသည် ကြောက်ရွံ့သော်၊ ကျိုးနွံသော်၊ ငြိမ်သက်သော်၊ စိတ်ပျံ့လွင့်တော့မည် မဟုတ်ပေ။ အပ အတွေးအခေါ်များ ပေါ်ပေါက်တော့မည်မဟုတ်ပေ။ စိတ်အာရုံသည် တည်ငြိမ်ပေမည်။ အလ္လာဟ်အရှင်မြတ်၌သာလျှင် စိတ်အာရုံသည် စွဲကပ်လျက်ရှိပေမည်။ ထိုအခါ ကြောက်ရွံ့ခြင်း၊ ကျိုးနွံခြင်း၊ ငြိမ်သက်ခြင်း၏ အတွင်းသဏ္ဍာန်သည် ကိုယ်ခန္ဓာ၏ အစိတ်အပိုင်း များပေါ်တွင် ထင်ရှားပေါ်လွင်၍ လာပေမည်။ ဥပမာ– ဆွလာတ် ဝတ်ပြုသူ၏ ဦးခေါင်းသည် အလိုအလျောက် ညွှတ်၍လာပေမည်။ မျက်စိသည် အောက်ဘက်သို့ စိုက်၍နေပေမည်။ ရိုသေခန့်ညားစွာ လက်ပိုက်လျက်ရှိနေပေမည်။ ကိုယ်ခန္ဓာသည် ငြိမ်သက်လျက်ရှိပေမည်။ ဟိုဟိုသည်သည်ကို ကြည့်မည်မဟုတ်ပေ။ ဝဲယာ ယိမ်းမည်မဟုတ်ပေ။ အင်္ကျီစ၊ ပုဆိုးစ၊ စသည်များကို ကိုင်တွယ်တော့မည် မဟုတ်ပေ။ လက်ချောင်းများကို ချိုးတော့မည်လည်း မဟုတ်ပေ။ တစ်စိတ်တစ်လက်တည်း စိတ်ရောကိုယ်ပါ အလ္လာဟ်အရှင်မြတ်၌သာ အာရုံစိုက်ကာ ကြောက်ရွံ့ကျိုးနွံ ငြိမ်သက်စွာ ဆွလာတ် ဝတ်ပြုပေမည်။ ဤသည်တို့ကား ခုရှုအ်တွင် အကျုံးဝင်သော အချက်များ၊ နိမိတ်လက္ခဏာများ တည်း။

သာဝကကြီးများသည် ဆွလာတ် ဝတ်ပြုရာတွင် အသက်မရှိသော သစ်တုံးကြီးများပမာ ငြိမ်သက်စွာ ဆွလာတ် ဝတ်ပြုလေ့ရှိခဲ့ကြပေသည်။ ဤသည်လည်း ခုရှုအ်၏ နိမိတ်လက္ခဏာတစ်ရပ်ပင်။

وَالَّذِيۡنَ هُمۡ عَنِ اللَّغۡوِ مُعۡرِضُوۡنَ ۝٣

၃။ ၎င်းပြင် ထို("မုအ်မင်န်" သက်ဝင်ယုံကြည်) သူတို့သည် အချည်းနှီး အကျိုးမဲ့ အမှုကိစ္စတို့မှ *ရှောင်ဖယ်သူများလည်း ဖြစ်ကြကုန်၏။* ၁

وَالَّذِيۡنَ هُمۡ لِلزَّكٰوةِ فٰعِلُوۡنَ ۝٤

၄။ ထို့ပြင် ထို("မုအ်မင်န်" သက်ဝင်ယုံကြည်) သူတို့သည် (မိမိတို့စိတ်နှလုံးများ) စင်ကြယ် သန့်ရှင်း အံ့သောငှာ *(ကောင်းမှုများကို)* ပြုလုပ်သူများ ဖြစ်ကြ *ကုန်၏။* ၂

---

① **(ခ) အချည်းနှီး အကျိုးမဲ့ ကိစ္စအဝဝကို ရှောင်ခြင်း၊**

"လဃ်ဝ" ဟူသည် လောကီရေးတွင်သော်လည်းကောင်း၊ လောကုတ္တရာရေးတွင်သော်လည်းကောင်း၊ မည်သို့မျှ အကျိုးမရှိသော၊ အချည်းနှီးသော အပြောအဆို၊ အပြုအမူ၊ ကိစ္စဟူဟူသမျှတို့ကို ဆိုလိုသည်။ လူ၏သက်တမ်း၊ အသက်၊ အချိန်များသည် အဖိုးတန်လှသည်။ အဖိုးမဖြတ်နိုင်ပေ။ ယင်းသို့ အဖိုးထိုက်တန်လှသော သက်တမ်း၊ အသက်၊ အချိန်များကို အချည်းနှီးသော၊ အကျိုးမရှိသောကိစ္စများတွင် အသို့လျှင် ဖြုန်းတီးရန် ဖြစ်နိုင်အံ့နည်း။ မုအ်မင်န်များသည် အချည်းနှီး အကျိုးမဲ့သော ကိစ္စများကို ဝေးစွာ ရှောင်ကြဉ်ကြပေသည်။ ယင်းသို့သောကိစ္စများတွင် မိမိတို့၏ အဖိုးထိုက်တန်လှသော အချိန်များကို မဖြုန်းတီးကြပေ။ မုအ်မင်န်များသည် အလ္လာဟ်အရှင်မြတ်၏ အဆုံးအမတော်များနှင့်အညီ အခါခပ်သိမ်း လိုက်နာကျင့်သုံး သွားလာနေထိုင်လျက် ရှိကြပေရာ၊ ၎င်းတို့၌ ယင်းသို့သော အချည်းနှီးအကျိုးမဲ့ ကိစ္စများတွင် အချိန်ဖြုန်းရန်အတွက် အဘယ်မှာလျှင် အချိန်ပို ရှိနိုင်အံ့နည်း။ အကျိုးမရှိသောကိစ္စများတွင် နစ်မွန်းနေသည်နှင့်အမျှ အကျိုးရှိသောကိစ္စများကို သယ်ပိုးဆောင်ရွက်နိုင်မည်မဟုတ်။ ဤသို့အကျိုးရှိသော ကိစ္စများကို မဆောင်ရွက်နိုင်ခြင်းမှာ ဆုံးရှုံးမှုပင်ဖြစ်သည်။ ဆုံးရှုံးစေသောအမှုကို ပြုခြင်းသည် မုအ်မင်န်၏အလုပ်မဟုတ်ပေ။

② **(ဂ)ဇကာတ် ပေးဆောင်ခြင်း။**

မုအ်မင်န်များသည် အစ္စလာမ်တရားတော်၏စည်းကမ်းချက်နှင့်အညီ ဇကာတ်ကို အမြဲတစေ ကြည်ဖြူစွာ ပေးဆောင်လေ့ရှိကြသည်။ ဇကာတ်ပေးဆောင်ရာတွင် တွန့်တိုခြင်း၊ ပျက်ကွက်ခြင်းအလျှင်းမရှိခဲ့ကြပေ။ အချို့ မုဖတ်စ်စိရ်များက ဤအာယတ်တော်တွင်လာရှိသည့် "ဇကာတ်" ဟူသောပုဒ်ကို သန့်ရှင်းစင်ကြယ်စေခြင်း၊ စိတ်ကို သန့်ရှင်းစင်ကြယ်စေခြင်း ဟူသောအနက်၌ မူလအဘိဓာန်ပင် ယူကြသည်။ ဤယူဆချက်အရ ဤ အာယတ်တော်သည် ကုရ်အာန်ကျမ်းလာ အာယတ်တော် ( قَدۡ اَفۡلَحَ مَنۡ تَزَكّٰى ) (၈၇:၁၄)နှင့်လည်းကောင်း၊ ( قَدۡ اَفۡلَحَ مَنۡ زَكّٰىهَا ) (၉၁:၉) နှင့်လည်းကောင်း၊ ဆင်တူ ဖြစ်သွားပေသည်။

ဤယူဆချက်အရ သန့်ရှင်းစင်ကြယ်စေခြင်း ဟူသောသဘောကို ကျယ်ဝန်းစွာ ထားရှိပါက၊ ဤသန့်ရှင်းစင်ကြယ်စေမှုတွင် ကိုယ်ခန္ဓာသန့်ရှင်းမှု၊ စိတ်၏သန့်ရှင်းမှု၊ ဥစ္စာပစ္စည်း၏ သန့်ရှင်းမှုများလည်း အကျုံးဝင်သွားပေမည်။ ဇကာတ်ပေးခြင်းသည် တစ်နည်းအားဖြင့် ဥစ္စာပစ္စည်းကို စင်ကြယ် သန့်ရှင်းစေအောင် ပြုလုပ်ခြင်းပင် ဖြစ်သည်။ ကြည့်-ကုရ်အာန် (၉:၁၀၃)။

وَالَّذِينَ هُمْ لِفُرُوجِهِمْ حَافِظُونَ ﴿٥﴾

၅။ ထိုမှတပါးထို("မုအ်မင်န်" သက်ဝင်ယုံကြည်) သူတို့သည် (ကာမေသုမိစ္ဆာစာရကံ ကျူးလွန်ခြင်းမှ) မိမိတို့၏ *အရှက်အင်္ဂါများကို စောင့်စည်း ထိန်းသိမ်း သူများလည်း ဖြစ်ကြကုန်၏။* [၁]

إِلَّا عَلَىٰ أَزْوَاجِهِمْ أَوْ مَا مَلَكَتْ أَيْمَانُهُمْ فَإِنَّهُمْ غَيْرُ مَلُومِينَ ﴿٦﴾

၆။ မိမိတို့၏ ဇနီးကြင်ယာများ၊ သို့မဟုတ် မိမိတို့ လက်ယာလက်များကပိုင်ဆိုင်သော (တရားဝင်) ကျွန်မိန်းမများမှတပါး၊ အကြောင်းမူကား (မိမိတို့ ဇနီးကြင်ယာများနှင့်သော်လည်းကောင်း၊ တရားဝင် ကျွန်မိန်းမများနှင့်သော်လည်းကောင်း၊ သံဝါသပြုခြင်းအားဖြင့်) ထိုသူတို့သည် ပြစ်တင်ခြင်း ခံထိုက်သူများ မဟုတ်သောကြောင့်ပင်။

فَمَنِ ابْتَغَىٰ وَرَاءَ ذَٰلِكَ فَأُولَٰئِكَ هُمُ الْعَادُونَ ﴿٧﴾

၇။ သို့ရာတွင် မည်သူမဆို ထို(ဇနီးကြင်ယာများ သို့မဟုတ် တရားဝင် ကျွန်မများ)မှ ကျော်လွန်၍ (အခြား အမျိုးသမီးများကို) တောင့်တ ရှာဖွေခဲ့မူ ယင်းကဲ့သို့ သူတို့သည်သာလျှင် စည်းကမ်းကို ကျူးလွန်သူများ ဖြစ်ကြကုန်၏။

---

(၁) **(ဃ) ကာမေသုမိစ္ဆာစာရကံ ရှောင်ခြင်း။**

လူသားတို့၌ သဘာဝအလျောက်၊ ကာမဂုဏ်အာရုံသည် ရှိသည်သာဖြစ်သည်။ ကာမဂုဏ်အာရုံကို စည်းမဲ့ကမ်းမဲ့အသုံးပြုပါက လူ့လောကသည် တိရစ္ဆာန်လောကဖြစ်သွားပေမည်။ ကာမဂုဏ်အာရုံကို ပိတ်ဆို့ထားရန်မှာ လက်တွေ့လည်းမဖြစ်နိုင်၊ သဘာဝကို ဆန့်ကျင်ရာလည်း ကျသည်။ ကာမဂုဏ်အာရုံကို အတင်းအဓမ္မ လုံးဝဖျက်ဆီးပစ်ပါက လူဆက်ပြတ်သွားပေမည်။ လူ့လောကကြီး ဆိတ်သုဉ်းသွားပေမည်။ သို့အတွက် အစ္စလာမ်သည် ကာမဂုဏ်အာရုံကို စည်းမဲ့ကမ်းမဲ့ အသုံးပြုရန်လည်းခွင့်မပြု၊ လုံးဝဖျက်ဆီးပစ်ရန်လည်း ခွင့်မပြု၊ ကာမဂုဏ်အာရုံနှင့်စပ်လျဉ်း၍ စည်းကမ်းချက်များ သတ်မှတ်ပေးထားသည်။ ဘောင်ခတ်ထားပေးသည်။ ထိမ်းမြားပိုင်သည့်အမျိုးသမီးများ၊ မထိမ်းမြားပိုင်သည့်အမျိုးသမီးများကိုလည်း ခွဲခြားပေးထားသည်။ ထိုသည့် စည်းကမ်းချက်များအတွင်း၊ ထိုသည့်ဘောင်အတွင်း၌ ကာမဂုဏ်ကို အသုံးပြုခြင်းသည် အပြစ်မရှိပေ။ သို့ရာတွင် ထိုသည့် စည်းကမ်းချက်နှင့် ဆန့်ကျင်လာပါက၊ ထိုသည့်ဘောင်အပြင်သို့ ထွက်လာပါက အလွန်ကြီးလေးသော ပြစ်ဒဏ်ခတ်ခြင်း ခံရပေမည်။ ထို့အတွက် မုအ်မင်န်များသည် မိမိတို့၏ ကာမဂုဏ်အာရုံများကို ထိန်းသိမ်းကြပေသည်။ အစ္စလာမ်၏ စည်းကမ်းချက်များနှင့် အညီ ဘောင်အတွင်း၌သာ နေထိုင်ကြပေသည်။ မိမိတို့၏ ကာမပိုင်ဇနီးများ၊ တရားဝင် ကျွန်မများမှတစ်ပါး၊ သူတစ်ပါး အိမ်ယာကို မေ့မှား၍မျှ မပြစ်မှားမိကြပေ။ ကာမေသုမိစ္ဆာစာရကံ မကျူးလွန်ကြပေ။ ကာမဂုဏ်အာရုံကို အလွဲသုံးစားလည်း မပြုကြပေ။

وَالَّذِينَ هُمْ لِأَمَٰنَٰتِهِمْ وَعَهْدِهِمْ رَٰعُونَ ﴿٨﴾

၈။ ၎င်းပြင် ထို ("မုအ်မင်န်" သက်ဝင်ယုံကြည်) သူတို့သည် မိမိတို့ ယုံကြည်လွှဲအပ်ခြင်း ခံရသော တာဝန်များကို လည်းကောင်း၊ မိမိတို့၏ *ကတိ ဝန်ခံချက်များကို လည်းကောင်း၊ စောင့်ထိန်းသူများ လည်း ဖြစ်ကြကုန်၏။* ၁

وَالَّذِينَ هُمْ عَلَىٰ صَلَوَٰتِهِمْ يُحَافِظُونَ ﴿٩﴾

၉။ ထို့ပြင် ထို("မုအ်မင်န်" သက်ဝင်ယုံကြည်) သူတို့သည် မိမိတို့၏ ဆွလာတ်ဝတ်ပြုမှု(တာဝန်) ကို *ဂရုစမ္မပြုသူများလည်း ဖြစ်ကြကုန်၏။* ၂

---

**၁ (င) ကတိတည်ခြင်း၊ အလွဲသုံးစားမပြုခြင်း၊**

လူ့လောကတွင် တစ်ဦးနှင့်တစ်ဦး ဆက်ဆံရာ၌ တစ်ဦးကိုတစ်ဦး ယုံကြည်စိတ်ချရမှုသည် အလွန်အရေးကြီးလှပေသည်။ ဆက်ဆံရေး တည်တံ့မှု၏ သော့ချက်ပင်ဖြစ်ပေသည်။ သို့ဖြစ်ရာ မိမိထံ ယုံပုံအပ်နှံထားသော ပစ္စည်းကို အလွဲသုံးစားမပြုရ၊ ထားရှိသောကတိကို မချိုးဖောက်ရ၊ မုအ်မင်န်တို့သည် မိမိတို့ထံ ယုံပုံအပ်နှံထားသော ပစ္စည်းကို သစ္စာရှိစွာဖြင့် ထိန်းသိမ်းထားကြပေသည်။ အလွဲသုံးစား မပြုကြပေ။ အလ္လာဟ်အရှင်မြတ်နှင့် ထားရှိသော ကတိများကို လည်းကောင်း၊ လူသားအချင်းချင်း ထားရှိသော ကတိများကို လည်းကောင်း မည်သည့်အခါ၌မျှ မချိုးဖောက်ကြပေ။

**၂ (စ) ဆွလာတ် ဝတ်ပြုခြင်း၊**

ကမ္ဘာ့အိမ်ထောင်စုကြီးတစ်ခုလုံးသည် အလ္လာဟ်အရှင်မြတ်၏ အဖန်ဆင်းခံဖြစ်သည်။ အလ္လာဟ် အရှင်မြတ်သည် ကမ္ဘာ့အိမ်ထောင်စုကြီးတစ်ခုလုံး၏ အရှင်သခင် ဖြစ်တော်မူသည်။ သို့ဖြစ်ပေရာ လူသားတို့သည် ထိုအရှင်မြတ်အားသာ ကြောက်ရွံ့ရိုသေ ခန့်ညားကြရပေမည်။ ထိုအရှင်မြတ်အားသာလျှင် ဝတ်ပြုကြရပေမည်။ ဝတ်ပြုမှုများတွင် "ဆွလာတ်"သည် အဓိကပင် ဖြစ်သည်။ ထို့အတွက် မုအ်မင်န်များသည် စည်းကမ်းကျနစွာ အချိန်မှန်မှန် ဆွလာတ် ဝတ်ပြုကြပေသည်။ မုအ်မင်န်တို့၏ ဂုဏ်ရည်များကို ဖော်ပြရာတွင် အစ၌လည်း ဆွလာတ်အကြောင်းပါရှိ၏။ အဆုံးတွင်လည်း ဆွလာတ်အကြောင်း ပါရှိ၏။ ဤသည်ကို ထောက်ရှုခြင်းအားဖြင့် ဆွလာတ်သည် အဘယ်မျှ အရေးကြီးသည်ကို ကောင်းစွာ သိရှိနိုင်ပေသည်။ မုအ်မင်န်တို့၏ ဂုဏ်ရည်များကို ထုတ်ဖော်မိန့်ကြားရာတွင် အထူးသဖြင့် အောက်ပါဂုဏ်ရည် (၆)ခုကို မိန့်ဆိုထားတော်မူသည်။

(၁) ဆွလာတ်ဝတ်ပြုရာတွင် ကျိုးနွံခြင်း၊

(၂) အချည်းနှီး အကျိုးမဲ့ကိစ္စများကို ရှောင်ကြဉ်ခြင်း၊

(၃) ဇကာတ် ပေးဆောင်ခြင်း၊

(၄) ကာမေသုမိစ္ဆာစာရကံကို ရှောင်ကြဉ်ခြင်း၊

(၅) ကတိတည်ခြင်း၊ အလွဲသုံးစားမပြုခြင်းနှင့်

(၆) အချိန်မှန် ဆွလာတ်ဝတ်ပြုခြင်း တို့ဖြစ်သည်။ ဤသည့် ဂုဏ်ရည်များနှင့် ပြည့်စုံသော မုအ်မင်န်သူတော်စင်များသည် ဂျန္နတ်တွင် "ဖိရဒေါက်စ်" ခေါ် အကောင်းဆုံးဘုံ၌ ထာဝစဉ် စံမြန်းကြရပေမည်။

၁၀။ ထို("မုအ်မင်န်" သက်ဝင်ယုံကြည်)သူတို့သည် ပင်လျှင် အမွေခံမည့်သူများ ဖြစ်ကြကုန်၏။

أُولَٰئِكَ هُمُ الْوَارِثُونَ ⑩

၁၁။ ၎င်းတို့သည် ဖိရ်ဒေါက်စ်(တည်း ဟူသော ဥယျာဉ်)ကို အမွေခံကြပေမည်။ ၎င်းတို့သည် ယင်း ဖိရ်ဒေါက်စ်တွင် အစဉ်ထာဝရ နေထိုင်မည့်သူများပင် ဖြစ်ကြကုန်သတည်း။

الَّذِينَ يَرِثُونَ الْفِرْدَوْسَ هُمْ فِيهَا خَالِدُونَ ⑪

၁၂။ မချွတ်မလွဲ ငါအရှင်မြတ်သည် လူသားကို *ရွှံ့မြေ၏ အဆီအနှစ်ဖြင့် ဖန်ဆင်းတော်မူခဲ့၏။* ၁

وَلَقَدْ خَلَقْنَا الْإِنسَانَ مِن سُلَالَةٍ مِّن طِينٍ ⑫

၁၃။ ထို့နောက် ငါအရှင်မြတ်သည် ထိုလူသား(၏ အဆက်အနွယ်)ကို လုံခြုံသောနေရာတစ်ခု (သားအိမ် တွင်း)၌ ကလလရေကြည် ဖြစ်စေတော်မူခဲ့၏။

ثُمَّ جَعَلْنَاهُ نُطْفَةً فِي قَرَارٍ مَّكِينٍ ⑬

---

(၁) <u>လူသား၏ဖြစ်စဉ်၊</u>

လူသား၏ ဖြစ်စဉ်ကို စဉ်းစားဆင်ခြင်ပါက အလ္လာဟ်အရှင်မြတ်၏ တန်ခိုးတော်အနန္တကို သိမြင်နိုင်ပေသည်။ လူသား၏ ဖြစ်စဉ်ကို နက်နက်နဲနဲ၊ စဉ်းစားဆင်ခြင်လေလေ အလ္လာဟ်အရှင်မြတ်၏ အံ့မဆုံးသော တန်ခိုးတော်များကို တွေ့ရလေလေ ဖြစ်ပေသည်။ လူသား၏ပုံပန်းသဏ္ဌာန်ကား အချိုးအစားကျလှ၏။ ပြေပြစ်လှ၏။ အပြစ်ဟူ၍ စိုးစဉ်းမျှမရှိ၊ လိုလေသေးသော အရာဟူ၍လည်း တစ်စုံတစ်ရာမျှမရှိ။

ဤမျှ ထူးဆန်းအံ့သြဖွယ်ရာ ဖြစ်သော လူသားသည် အိမ်တွင်းဖြစ် ပစ္စည်းလော၊ အလျှင်းမဟုတ်၊ လူသားသည် မိမိကိုယ်ကို မိမိပိုင်ဆိုင်လေသလော။ အလျှင်းမဟုတ်၊ လူသားသည် မိမိကိုယ်ကိုမိမိ ပြုလုပ်ဖန်ဆင်းနိုင်သလော၊ အလျှင်းမဟုတ်၊ လူသားသည် မိမိကိုယ်ကို သေခြင်းတရားမှ လွတ်မြောက်စေနိုင်ပါသလော၊ အလျှင်းမဟုတ်၊ အမှန်မှာလူသားသည် အလ္လာဟ်အရှင်မြတ်၏ အဖန်ဆင်းခံသက်သက်သာ ဖြစ်သည်။

ထိုအရှင်မြတ်၏လက်တော်တွင်း၌သာ ရှိနေပေသည်။ ထိုအရှင်မြတ်သည် လူသား၌ မိမိအလိုတော် အတိုင်း ခြယ်လှယ်တော်မူသည်။ ထိုအရှင်မြတ်သည် ဤသည့်လူသားအား အကြောင်းမဲ့ ဖန်ဆင်းထားတော်မူသည် မဟုတ်ပေ၊ ထိုအရှင်မြတ်သည် လူသားအား စတင်ဖန်ဆင်းတော်မူသကဲ့သို့ သေစေတော်မူမည်။ ထို့နောက် တစ်ဖန် ရှင်ပြန်ထစေတော်မူဦးမည်။

လူသား၌ လျှို့ဝှက်ထားသည့် စွမ်းရည်သတ္တိများ အမြောက်အမြား ရှိပေသေးသည်။ ထိုသည့် စွမ်းရည်သတ္တိများသည် ပေါ်လွင်ထင်ရှားရဦးမည်။ ထို့ပြင်တဝ၊ လူသားအသက်ရှင်နေစဉ် ကျင့်မူခဲ့သောအရာများနှင့် စပ်လျဉ်း၍ ကောင်းကျိုးဆိုးကျိုးများကို ပေးတော်မူဦးမည် ဖြစ်သည်။ ဤအကြောင်းနှင့် စပ်လျဉ်း၍ ကုရ်အာန် (၂၂:၅) ၏အဖွင့်တွင် အကျယ်ရေးသားခဲ့ပေပြီ၊ ပြန်လည်ရှုပါကုန်။

ثُمَّ خَلَقْنَا النُّطْفَةَ عَلَقَةً فَخَلَقْنَا الْعَلَقَةَ مُضْغَةً فَخَلَقْنَا الْمُضْغَةَ عِظٰمًا فَكَسَوْنَا الْعِظٰمَ لَحْمًا ۚ ثُمَّ أَنْشَأْنٰهُ خَلْقًا اٰخَرَ ۚ فَتَبٰرَكَ اللّٰهُ أَحْسَنُ الْخٰلِقِينَ ﴿١٤﴾

၁၄။ ထို့နောက် ငါအရှင်မြတ်သည် ယင်း ကလလ ရေကြည်ကို သွေးခဲအဖြစ် ဖန်ဆင်းတော်မူခဲ့ပြန်၏။ တစ်ဖန်ငါအရှင်မြတ်သည် ယင်းသွေးခဲကို အသားတုံး အဖြစ်ဖန်ဆင်းတော်မူခဲ့ပြန်၏။ တစ်ဖန် ငါအရှင်မြတ် သည် ယင်းအသားတုံးကို အရိုးများအဖြစ် ဖန်ဆင်း တော်မူခဲ့ပြန်၏။

ထို့နောက်ငါအရှင်မြတ်သည် ယင်း အရိုးများ ကို အသားဖြင့် တန်ဆာဆင်မြန်း၍ ပေးတော်မူခဲ့၏။ ထို့နောက် ငါအရှင်မြတ်သည် ယင်း(အသားဖြင့် ဆင်မြန်းပြီးဖြစ်သော အရိုးများ)ကို အခြား ဖန်ဆင်း အပ်သော အရာတစ်ခုအဖြစ် ဖြစ်ပေါ်၍ လာစေတော် မူခဲ့၏။ သို့ဖြစ်ပေရာ အကောင်းဆုံးသော ဖန်ဆင်း တော်မူသော အလ္လာဟ်အရှင်မြတ်သည် အဘယ်မျှ ထူးကဲ မြင့်မြတ်လှဘိပါသနည်း။

ثُمَّ إِنَّكُمْ بَعْدَ ذٰلِكَ لَمَيِّتُونَ ﴿١٥﴾

၁၅။ တစ်ဖန် ဧကန်အမှန် အသင်တို့သည် ထို (ထူးဆန်းအံ့ဖွယ်ဖြစ်သော အခြေအနေတို့ကို ကျော် လွန်ပြီး)နောက် အမှန်ပင် အသက်သေဆုံးကြရမည့် သူများ ဖြစ်ကြကုန်၏။

ثُمَّ إِنَّكُمْ يَوْمَ الْقِيٰمَةِ تُبْعَثُونَ ﴿١٦﴾

၁၆။ တစ်ဖန် ဧကန်မလွဲ အသင်တို့သည် ကိယာ မတ်နေ့တွင် ရှင်ပြန်ထကြရအံ့သတည်း။

وَلَقَدْ خَلَقْنَا فَوْقَكُمْ سَبْعَ طَرَآئِقَ ۖ وَمَا كُنَّا عَنِ الْخَلْقِ غٰفِلِينَ ﴿١٧﴾

၁၇။ ၎င်းပြင် မချွတ်ဧကန် ငါအရှင်မြတ်သည် အသင်တို့၏ထက်ဝယ် (မိုး) ခုနစ်ထပ်ကို ဖန်ဆင်း တော်မူခဲ့၏။ စင်စစ်သော်ကား ငါအရှင်မြတ်သည် အဖန်ဆင်းခံတို့ကို လျစ်လျူရှုထားတော်မူသောအရှင် မဟုတ်ပေ။

وَأَنزَلْنَا مِنَ السَّمَاءِ مَاءً بِقَدَرٍ فَأَسْكَنَّاهُ فِي الْأَرْضِ ۖ وَإِنَّا عَلَىٰ ذَهَابٍ بِهِ لَقَادِرُونَ ﴿١٨﴾

၁၈။ ထို့ပြင် ငါအရှင်မြတ်သည် မိုးကောင်းကင်မှ (မိုး)ရေကို (သင့်တော်သော) အတိုင်းအတာ ချိန်ဆ ချက်နှင့်တကွ ရွာသွန်းစေတော်မူခဲ့၏။ တစ်ဖန် ငါ အရှင်မြတ်သည်ထို(မိုး)ရေကို ပထဝီမြေဝယ် ရပ်တည် စေတော်မူခဲ့၏။ စင်စစ်သော်ကား ငါအရှင်မြတ်သည် ထို(မိုး)ရေကို ပပျောက်စေခြင်းငှာ တတ်စွမ်းနိုင်တော် မူသောအရှင်လည်း ဖြစ်တော်မူပေသည်။

فَأَنشَأْنَا لَكُم بِهِ جَنَّاتٍ مِّن نَّخِيلٍ وَأَعْنَابٍ لَّكُمْ فِيهَا فَوَاكِهُ كَثِيرَةٌ وَمِنْهَا تَأْكُلُونَ ﴿١٩﴾

၁၉။ ထို့နောက် ငါအရှင်မြတ်သည် ထို(မိုး)ရေဖြင့် အသင်တို့အဖို့ စွန်ပလွံခြံများကို လည်းကောင်း၊ စပျစ်ခြံများကိုလည်းကောင်း၊ ပေါက်ရောက်စေတော် မူခဲ့၏။ အသင်တို့အဖို့ယင်းခြံများတွင် မြောက်မြားစွာ သော သစ်သီးဝလံများသည်ရှိ၏။ ထို့ပြင် အသင်တို့ သည် ယင်းခြံများမှ စားသုံးကြကုန်၏။

وَشَجَرَةً تَخْرُجُ مِن طُورِ سَيْنَاءَ تَنبُتُ بِالدُّهْنِ وَصِبْغٍ لِّلْآكِلِينَ ﴿٢٠﴾

၂၀။ ထိုမှတပါး(ငါအရှင်မြတ်သည်) သံလွင်ပင် ခေါ် သစ်ပင်တစ်မျိုးကိုလည်း (ပေါက်ရောက်စေတော်မူခဲ့ ၏)။ ထိုသစ်ပင်သည်သိနတောင်၌ ပေါက်ရောက်လေ့ ရှိသည်၊ ထိုသစ်ပင်သည် ဆီကိုလည်းကောင်း၊ စားသုံး သူတို့အဖို့ ဟင်းလျာကိုလည်းကောင်း၊ ထွက်စေသည်။

وَإِنَّ لَكُمْ فِي الْأَنْعَامِ لَعِبْرَةً ۖ نُّسْقِيكُم مِّمَّا فِي بُطُونِهَا وَلَكُمْ فِيهَا مَنَافِعُ كَثِيرَةٌ وَمِنْهَا تَأْكُلُونَ ﴿٢١﴾

၂၁။ ထိုမှတပါး ဧကန်စင်စစ်အသင်တို့အဖို့ ခြေ လေးချောင်းတိရစ္ဆာန်(များဖြစ်သောကုလားအုတ်၊ နွား၊ သိုး၊ ဆိတ်တို့)တွင် ဆင်ခြင်သုံးသပ်ရန် အချက်သည် အမှန်ပင်ရှိပေသည်။ငါအရှင်မြတ်သည် အသင်တို့အား ၎င်းတို့၏ဝမ်းတွင်း၌ရှိသော (နို့ရည်)ကို တိုက်ကျွေး တော်မူပေသည်။ ထို့ပြင် အသင်တို့အဖို့ ၎င်းတို့တွင် များစွာသော အကျိုးကျေးဇူးများသည်လည်း ရှိလေ သည်။ ထို့ပြင် တစ်ဝ အသင်တို့သည် ၎င်းတို့အနက်မှ စားသုံးကြလေသည်။

وَعَلَيْهَا وَعَلَى الْفُلْكِ تُحْمَلُونَ ﴿٢٢﴾

၂၂။ ထိုမှတပါးအသင်တို့သည် ယင်းတိရစ္ဆာန်များ ပေါ်၌လည်းကောင်း၊ သင်္ဘောများပေါ်၌လည်းကောင်း၊ စီးနင်း(သွားလာ တင်ဆောင်)ကြကုန်သတည်း။

وَلَقَدْ أَرْسَلْنَا نُوحًا إِلَىٰ قَوْمِهِ فَقَالَ يَا قَوْمِ اعْبُدُوا اللَّهَ مَا لَكُم مِّنْ إِلَٰهٍ غَيْرُهُ ۖ أَفَلَا تَتَّقُونَ ﴿٢٣﴾

၂၃။ ၎င်းပြင် အမှန်စင်စစ် ငါအရှင်မြတ်သည် (နဗီတမန်တော်)နူဟ်အား ၎င်း၏အမျိုးသားတို့ထံ စေလွှတ်တော်မူခဲ့၏။ ထိုအခါ ထိုနူဟ်က အို-ငါ၏ အမျိုးသားတို့၊ အသင်တို့သည် အလ္လာဟ်အရှင်မြတ် အားသာလျှင် ခဝပ်ကိုးကွယ်ကြလေကုန်၊

ထိုအရှင်မြတ်မှတပါးအသင်တို့၌ ကိုးကွယ်ရာ အရှင်ဟူ၍အလျှင်းမရှိပြီ၊ သို့ပါလျက် အသင်တို့သည် (အခြားအရာများကို) ထိုအရှင်မြတ်နှင့်တွဲဖက်နိုင်းယှဉ် ကိုးကွယ်ခြင်းမှ မကြောက်ရွံ့ကြလေသလော။

فَقَالَ الْمَلَأُ الَّذِينَ كَفَرُوا مِن قَوْمِهِ مَا هَٰذَا إِلَّا بَشَرٌ مِّثْلُكُمْ يُرِيدُ أَن يَتَفَضَّلَ عَلَيْكُمْ وَلَوْ شَاءَ اللَّهُ لَأَنزَلَ مَلَائِكَةً مَّا سَمِعْنَا بِهَٰذَا فِي آبَائِنَا الْأَوَّلِينَ ﴿٢٤﴾

၂၄။ ထိုအခါ ထိုနူဟ်၏ အမျိုးသားတို့အနက် မယုံမကြည် သွေဖည်ငြင်းပယ်ကြကုန်သော အကြီး အကဲတို့က (အချင်းတို့၊) ဤနူဟ်သည် အသင်တို့ ကဲ့သို့ပင် လူသားတစ်ဦးသာလျှင် ဖြစ်ပေသည်။ ၎င်းသည် အသင်တို့ထက် ကြီးကဲမြင့်မြတ်ရန် ကြံရွယ် နေခြင်းပင် ဖြစ်ချေသည်။

စင်စစ် အကယ်၍သာ အလ္လာဟ်အရှင်မြတ် သည် (ကျွန်ုပ်တို့အား တရားလမ်းမှန်သို့ရောက်စေရန်) အလိုရှိတော်မူခဲ့ပါလျှင် ကောင်းကင်တမန်များကိုသာ စေလွှတ်တော်မူခဲ့ပေမည်။ ကျွန်ုပ်တို့သည် ဤ(တစ်ဆူ တည်းသော ကိုးကွယ်ရာအရှင်ဟူသော) စကားကို မိမိတို့ ရှေးသူဟောင်းများဖြစ်သော ဘိုးဘေး တို့ထံမှ (တစ်ခါဘူးမျှပင်) မကြားခဲ့ဘူးကြချေ။

إِنْ هُوَ إِلَّا رَجُلٌۢ بِهِۦ جِنَّةٌ فَتَرَبَّصُوا۟ بِهِۦ حَتَّىٰ حِينٍ ﴿٢٥﴾

၂၅။ (စစ်စစ်) ဤနူဟ်သည် ရူးသွပ်ခြင်း(ဝေဒနာ စွဲကပ်လျက်)ရှိသော သူ(ရူး)တစ်ဦးမျှပင် ဖြစ်ပေရာ အသင်တို့သည်၎င်းနှင့်ပတ်သက်၍ ကာလအတန်ကြာ သည့်တိုင်အောင်စောင့်မျှော်(၍သာကြည့်နေ)ကြလေကုန်။

قَالَ رَبِّ ٱنصُرْنِى بِمَا كَذَّبُونِ ﴿٢٦﴾

၂၆။ ထို(နဗီတမန်တော်)နူဟ်က အို-ကျွန်တော်မျိုးအား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်၊ ၎င်းတို့သည် ကျွန်တော်မျိုးအား မဟုတ်မမှန်ဟူ၍ ငြင်းပယ်ခဲ့ကြသောကြောင့် အရှင်မြတ်သည် ကျွန်တော်မျိုးအား ကူညီစောင်မတော်မူပါဟု လျှောက်ထား အသနားခံခဲ့လေသည်။

فَأَوْحَيْنَآ إِلَيْهِ أَنِ ٱصْنَعِ ٱلْفُلْكَ بِأَعْيُنِنَا وَوَحْيِنَا فَإِذَا جَآءَ أَمْرُنَا وَفَارَ ٱلتَّنُّورُ فَٱسْلُكْ فِيهَا مِن كُلٍّ زَوْجَيْنِ ٱثْنَيْنِ وَأَهْلَكَ إِلَّا مَن سَبَقَ عَلَيْهِ ٱلْقَوْلُ مِنْهُمْ وَلَا تُخَٰطِبْنِى فِى ٱلَّذِينَ ظَلَمُوٓا۟ إِنَّهُم مُّغْرَقُونَ ﴿٢٧﴾

၂၇။ ထိုအခါ ငါအရှင်မြတ်သည် ထို (နဗီတမန်တော်)နူဟ်၏ထံသို့ (ဤသို့) "ဝဟ်ယ်" အမိန့်တော် ထုတ်ပြန်တော်မူခဲ့၏။ (အို-နူဟ်၊) အသင်သည် ငါအရှင်မြတ်၏ အမိန့်တော်အရ ငါအရှင်မြတ်၏ မျက်စိအောက်တွင် သင်္ဘောကို ပြုလုပ် တည်ဆောက်ပါလေ။ ထို့နောက်ငါအရှင်မြတ်၏အမိန့်တော် ရောက်ရှိလာ၍ မုံ့ဖိုသည် ဆူပွက်လာသောအခါ အသင်သည် (တိရစ္ဆာန်) အမျိုးအစား အသီးသီးတို့မှ တစ်စုံစီကိုလည်းကောင်း၊ အသင်၏ အိမ်သူအိမ်သားတို့အနက် အမိန့်တော် ထုတ်ပြန်ပြီး ဖြစ်သောသူမှတပါး ကျန်အိမ်သူအိမ်သားတို့ကိုလည်းကောင်း၊ ထိုသင်္ဘော(ပေါ်)တွင်တင်ဆောင်ပါလေ။ သို့ရာတွင်(မိမိတို့ ကိုယ်ကို မိမိတို့ပင်) နှိပ်စက်ကလူပြုကြကုန်သော သူတို့နှင့် ပတ်သက်၍မူကား အသင်သည်ငါအရှင်မြတ် အထံတော်တွင်(တစ်စုံတစ်ရာကို) လျှောက်ထား ပန်ကြားခြင်းကိုမပြုလေနှင့်။ စေကန်မလွဲ၎င်းတို့သည် နစ်မြုပ်စေခြင်းခံကြရမည့်သူများပင် ဖြစ်ကြကုန်သည်။

فَإِذَا اسْتَوَيْتَ أَنتَ وَمَن مَّعَكَ عَلَى الْفُلْكِ فَقُلِ الْحَمْدُ لِلَّهِ الَّذِي نَجَّانَا مِنَ الْقَوْمِ الظَّالِمِينَ ﴿٢٨﴾

၂၈။ တစ်ဖန် အသင်နှင့်တကွ အသင်နှင့်အတူ (လိုက်ပါကြကုန်သော)အဖော်များပါ သင်္ဘောပေါ်တွင် ကျနစွာ ထိုင်ပြီးကြသောအခါ အသင်သည် "ချီးမွမ်းထောပနာ အပေါင်းတို့သည် ကျွန်တော်မျိုးတို့အား မတရားသဖြင့် နှိပ်စက်ကြကုန်သော အမျိုးသားတို့(၏ဘေးအန္တရာယ်)များမှ ကင်းလွတ်စေတော်မူသော အလ္လာဟ်အရှင်မြတ်သည်သာလျှင် ခံယူထိုက်တော်မူပါသည်" ဟု ရွတ်ဆိုပါလေ။

وَقُل رَّبِّ أَنزِلْنِي مُنزَلًا مُّبَارَكًا وَأَنتَ خَيْرُ الْمُنزِلِينَ ﴿٢٩﴾

၂၉။ ထိုမှတပါးအသင်သည် (သင်္ဘောပေါ်မှ ဆင်းသောအခါ)"အို-ကျွန်တော်မျိုးတို့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်၊အရှင်မြတ်သည် ကျွန်တော်မျိုးအား ကျက်သရေမင်္ဂလာနှင့်ပြည့်စုံစွာ၊ ပြည့်စုံသောနေရာသို့ ဆင်းသက်စေတော်မူပါ။ စင်စစ် အရှင်မြတ်သည် အကောင်းဆုံးသောဆင်းသက်စေတော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူပါသည်" ဟု လျှောက်ထားပန်ကြားပါလေ။

إِنَّ فِي ذَٰلِكَ لَآيَاتٍ وَإِن كُنَّا لَمُبْتَلِينَ ﴿٣٠﴾

၃၀။ ဧကန်မလွဲ ဤသည့်(အတ္ထုပ္ပတ္တိ အကြောင်း) တွင် (အလ္လာဟ်အရှင်မြတ်၏ များစွာသော)သက်သေလက္ခဏာများသည် ရှိကြပေသည်။ ၎င်းပြင် ဧကန်စင်စစ် ငါအရှင်မြတ်သည် စမ်းသပ်တော်မူမည့်အရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

ثُمَّ أَنشَأْنَا مِن بَعْدِهِمْ قَرْنًا آخَرِينَ ﴿٣١﴾

၃၁။ ထို့နောက်ငါအရှင်မြတ်သည် ၎င်းတို့၏နောက်တွင် အခြားမျိုးနွယ်ကို ဖန်ဆင်းတော်မူခဲ့၏။

فَأَرْسَلْنَا فِيهِمْ رَسُولًا مِّنْهُمْ

၃၂။ တစ်ဖန် ငါအရှင်မြတ်သည် ထိုမျိုးနွယ်တွင် ၎င်းတို့အနက်မှပင် ရစူလ် တမန်တော်တစ်ပါးကို စေလွှတ်တော်မူ(၍ ဤသို့မိန့်မှာတော်)မူခဲ့၏။

أَنِ اعْبُدُوا اللَّهَ مَا لَكُم مِّنْ إِلَٰهٍ غَيْرُهُ ۚ أَفَلَا تَتَّقُونَ ﴿٣٢﴾

အသင်တို့သည် အလ္လာဟ်အရှင်မြတ်အား သာလျှင် ခဝပ်ကိုးကွယ်ကြလေကုန်။ ထိုအရှင်မြတ်မှ တပါး အသင်တို့အဖို့ ခဝပ်ကိုးကွယ်ရာ အရှင်ဟူ၍ အလျှင်းမရှိပြီ၊ သို့ပါလျက် အသင်တို့သည် မကြောက်ရွံ့ ကြလေသလော။

وَقَالَ الْمَلَأُ مِن قَوْمِهِ الَّذِينَ كَفَرُوا وَكَذَّبُوا بِلِقَاءِ الْآخِرَةِ وَأَتْرَفْنَاهُمْ فِي الْحَيَاةِ الدُّنْيَا مَا هَٰذَا إِلَّا بَشَرٌ مِّثْلُكُمْ يَأْكُلُ مِمَّا تَأْكُلُونَ مِنْهُ وَيَشْرَبُ مِمَّا تَشْرَبُونَ ﴿٣٣﴾

၃၃။ ၎င်းပြင် ထိုရစူလ်တမန်တော်၏ အမျိုးသားတို့ အနက် အကြင်အကြီးအကဲတို့သည် မယုံမကြည် သွေဖည် ငြင်းပယ်ခဲ့ကြ၏။ ၎င်းပြင် တမလွန်ဘဝနှင့် တွေ့ကြုံ ရင်ဆိုင်ရမည်ကိုလည်း မဟုတ်မမှန်ဟူ၍ ငြင်းဆိုခဲ့ကြသေး၏။ ၎င်းပြင် ငါအရှင်မြတ်သည် ထိုသူတို့အား (ဤမျက်မှောက်) လောကီဘဝတွင် စည်းစိမ်ချမ်းသာကိုလည်း ပေးတော်မူခဲ့၏။ ၎င်းတို့က (မိမိတို့ အမျိုးသားတို့အား-အချင်းတို့၊) ဤသူသည် အသင်တို့ကဲ့သို့ပင် လူသားတစ်ဦးမျှဖြစ်၏။ ၎င်းသည် အသင်တို့ စားသုံးကြကုန်သောအရာများကို စားသုံး လေသည်။ ၎င်းပြင် အသင်တို့ သောက်ကြကုန်သော အရာများကိုပင် သောက်သုံးလေသည်ဟု ပြောဆိုခဲ့ကြ ကုန်၏။

وَلَئِنْ أَطَعْتُم بَشَرًا مِّثْلَكُمْ إِنَّكُمْ إِذًا لَّخَاسِرُونَ ﴿٣٤﴾

၃၄။ အကယ်၍ အသင်တို့သည် မိမိတို့ကဲ့သို့သော လူသားတစ်ဦး(၏အမိန့်)ကို လိုက်နာခဲ့ကြသည်ရှိသော် ဧကန်မလွဲ အသင်တို့သည် ဆုံးရှုံးသူများသာလျှင် ဖြစ်ကြပေမည်။

أَيَعِدُكُمْ أَنَّكُمْ إِذَا مِتُّمْ وَكُنتُمْ تُرَابًا وَعِظَامًا أَنَّكُم مُّخْرَجُونَ ﴿٣٥﴾

၃၅။ ၎င်းက အသင်တို့ သေဆုံးကြပြီးနောက် မြေကြီးဖြစ်၍အရိုးများသာကျန်သောအခါ ဧကန်အမှန် အသင်တို့သည် (သင်္ချိုင်းတွင်းမှ) ပြန်ထွက်ကြရမည့် သူများ ဖြစ်ကြသည်ဟု) အသင်တို့အား ပြောဆိုသည် မဟုတ်လော။

هَيْهَاتَ هَيْهَاتَ لِمَا تُوعَدُونَ ﴿٣٦﴾

၃၆။ ဝေးလေစွ၊ ဝေးလေစွ၊ အသင်တို့ ပြောဆိုခြင်း ခံကြရသောကတိစကားသည် အလျှင်း မဖြစ်နိုင်ပြီ။

إِنْ هِيَ إِلَّا حَيَاتُنَا الدُّنْيَا نَمُوتُ وَنَحْيَا وَمَا نَحْنُ بِمَبْعُوثِينَ ﴿٣٧﴾

၃၇။ အသက်ရှင်ခြင်းဟူသည်ကျွန်ုပ်တို့၏ လောကီဘဝ၌ အသက်ရှင်ခြင်း မှတစ်ပါး အခြားမရှိပြီ။ ကျွန်ုပ်တို့(အနက် အချို့)သည် သေဆုံးကြလေသည်။ ထိုနည်းတူစွာ ကျွန်ုပ်တို့(အနက် အချို့)မှာ အသက်ရှင်လျက် ရှိနေကြပေသည်။ သို့ရာတွင် ကျွန်ုပ်တို့သည် ရှင်ပြန်ထကြရမည့်သူများ အလျှင်းမဟုတ်ပြီ။

إِنْ هُوَ إِلَّا رَجُلٌ افْتَرَىٰ عَلَى اللَّهِ كَذِبًا وَمَا نَحْنُ لَهُ بِمُؤْمِنِينَ ﴿٣٨﴾

၃၈။ ဤသူသည် အလ္လာဟ် အရှင်မြတ်အပေါ်၌ မဟုတ်မမှန်မုသားစကားကို လီဆယ်ပြောဆိုသူတစ်ဦးမျှဖြစ်ပေရာ ကျွန်ုပ်တို့သည် ၎င်းအား ယုံကြည်မည့်သူ အလျှင်း မဟုတ်ကြချေ။

قَالَ رَبِّ انْصُرْنِي بِمَا كَذَّبُونِ ﴿٣٩﴾

၃၉။ (ထိုအခါ) ထိုရစူလ်တမန်တော်က အိုကျွန်တော်မျိုးအား ဖန်ဆင်းမွေးမြူသောအရှင်မြတ်၊ ၎င်းတို့သည် ကျွန်တော်မျိုးအားမဟုတ်မမှန်ဟူ၍ ငြင်းပယ်ကြပေရာ၊ အရှင်မြတ်သည် ကျွန်တော်မျိုးအား ကူညီစောင်မတော်မူပါဟု လျှောက်ထားပန်ကြားခဲ့လေသည်။

قَالَ عَمَّا قَلِيلٍ لَيُصْبِحُنَّ نَادِمِينَ ﴿٤٠﴾

၄၀။ (ထိုအခါ) ထိုအရှင်မြတ်က (အို–နဗီတမန်တော်)၎င်းတို့သည် အမှန်ပင်မကြာမြင့်မီကာလအတွင်း နောင်တရမည့်သူများ ဖြစ်ကြသည်(ဟု မိန့်ကြားတော်မူခဲ့လေ၏။)

فَأَخَذَتْهُمُ الصَّيْحَةُ بِالْحَقِّ فَجَعَلْنَاهُمْ غُثَاءً ۚ فَبُعْدًا لِلْقَوْمِ

၄၁။ ထို့နောက် အလွန်ပြင်းထန် ကျယ်လောင်စွာသောအသံသည် မှန်ကန်သော ချိန်းဆိုချက်နှင့်အညီ ၎င်းတို့အား ဖမ်းဆီးကွပ်မျက်ခဲ့လေသည်။ ထိုအခါငါအရှင်မြတ်သည် ၎င်းတို့အား အမှိုက်သရိုက်များ (ကဲ့သို့) ချေမှုန်းတော်မူခဲ့၏။

الظّٰلِمِيْنَ ﴿٤١﴾

သို့ဖြစ်ပေရာ မတရားကျူးလွန်သော (ထို)အမျိုးသားတို့မှာ(ကရုဏာတော်မှ) ကင်းဝေးခဲ့ကြရကုန်သတည်း။

ثُمَّ اَنْشَاْنَا مِنْۢ بَعْدِهِمْ قُرُوْنًا اٰخَرِيْنَ ﴿٤٢﴾

၄၂။ ထို့နောက် ငါအရှင်မြတ်သည် ၎င်းတို့၏ နောက်တွင် အခြားသော မျိုးနွယ်တို့ကို ဖန်ဆင်းတော်မူခဲ့၏။

مَا تَسْبِقُ مِنْ اُمَّةٍ اَجَلَهَا وَمَا يَسْتَاْخِرُوْنَ ﴿٤٣﴾

၄၃။ မည်သည့်အုပ်စုမျှပင် မိမိတို့နှင့်ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းပြီးဖြစ်သော အချိန်ကာလထက် စောနိုင်သည်လည်း မဟုတ်ပေ။ နောက်ကျနိုင်သည်လည်း မဟုတ်ချေ။

ثُمَّ اَرْسَلْنَا رُسُلَنَا تَتْرَا ؕ كُلَّمَا جَآءَ اُمَّةً رَّسُوْلُهَا كَذَّبُوْهُ فَاَتْبَعْنَا بَعْضَهُمْ بَعْضًا وَّجَعَلْنٰهُمْ اَحَادِيْثَ ۚ فَبُعْدًا لِّقَوْمٍ لَّا يُؤْمِنُوْنَ ﴿٤٤﴾

၄၄။ ထို့နောက် ငါအရှင်မြတ်သည် မိမိရစူလ်တမန်တော်များအားတစ်ပါးပြီးတစ်ပါး စေလွှတ်တော်မူခဲ့၏။ မည်သည့်အခါမျိုးမဆို အုပ်စုတစ်စု၏ထံသို့ ၎င်း၏ ရစူလ်တမန်တော်သည် (ပွင့်)ရောက်ခဲ့ပါလျှင် ယင်းအုပ်စုသည်ထိုရစူလ်တမန်တော်အား မဟုတ်မမှန်ဟူ၍ ငြင်းပယ်ခဲ့ကြသည်သာ။ သို့ဖြစ်ပေရာ ငါအရှင်မြတ်သည် ၎င်းတို့အား တစ်ဦး၏နောက်သို့ တစ်ဦးကို လိုက်စေတော်မူခဲ့၏။ ထို့ပြင်ငါအရှင်မြတ်သည် ၎င်းတို့အား(တရားရဖွယ်ရာအကြောင်းများ) ပြုလုပ်တော်မူခဲ့၏။ သို့ဖြစ်ပေရာ သက်ဝင်ယုံကြည်ခြင်း မရှိသော သူတို့သည် (ကရုဏာတော်မှ) ကင်းဝေးခဲ့ကြရလေသတည်း။

ثُمَّ اَرْسَلْنَا مُوْسٰى وَاَخَاهُ هٰرُوْنَ ۙ بِاٰيٰتِنَا وَسُلْطٰنٍ مُّبِيْنٍ ﴿٤٥﴾

၄၅။ ထို့နောက်ငါအရှင်မြတ်သည် (နဗီတမန်တော်) မူစာအားလည်းကောင်း၊ ထို (နဗီတမန်တော်)မူစာ၏ နောင်တော်(နဗီတမန်တော်)ဟာရုန်အားလည်းကောင်း၊ မိမိ အမိန့်ပညတ်တော်များနှင့် ထင်ရှားလှစွာသော သက်သေသာဓကနှင့်တကွ စေလွှတ်တော်မူခဲ့၏။

إِلَىٰ فِرْعَوْنَ وَمَلَإِيْهِ فَاسْتَكْبَرُوا وَكَانُوا قَوْمًا عَالِينَ ﴿٤٦﴾

၄၆။ ဖစ်ရ်အောင်န်၏ထံသို့လည်းကောင်း၊ ထို ဖစ်ရ်အောင်န်၏မှူးမတ်တို့ထံသို့လည်းကောင်း၊ သို့ရာတွင် ၎င်းတို့သည် မောက်မာခဲ့ကြကုန်၏။ စင်စစ် ၎င်းတို့သည် (ရှေးဦးမဆွကပင်) မောက်မာသူများ ဖြစ်ခဲ့ကြကုန်၏။

فَقَالُوا أَنُؤْمِنُ لِبَشَرَيْنِ مِثْلِنَا وَقَوْمُهُمَا لَنَا عَابِدُونَ ﴿٤٧﴾

၄၇။ သို့အတွက်ကြောင့်ပင် ၎င်းတို့သည် (ဤသို့) ပြောဆိုခဲ့ကြကုန်၏။ ကျွန်ုပ်တို့သည် မိမိတို့ကဲ့သို့သော လူသားနှစ်ဦးကိုပင် ယုံကြည်ကြရမည်လော။ စင်စစ်သော်ကား ၎င်းတို့နှစ်ဦး၏ အမျိုးသားတို့မှာ ကျွန်ုပ်တို့၏လက်အောက်ခံ ကျေးကျွန်များပင် ဖြစ်ကြကုန်၏။

فَكَذَّبُوهُمَا فَكَانُوا مِنَ الْمُهْلَكِينَ ﴿٤٨﴾

၄၈။ အချုပ်မှာ ၎င်းတို့သည် ထို(နဗီတမန်တော်) မူစာနှင့် (နဗီတမန်တော်)ဟာရူန်၊ နှစ်ပါးစလုံးကို မဟုတ်မမှန်ဟူ၍ ငြင်းပယ်ခဲ့ကြကုန်၏။ သို့ဖြစ်ပေရာ ယင်း(ဖစ်ရ်အောင်န်နှင့် မှူးမတ်)တို့သည် ပျက်စီးခဲ့ကြရကုန်သည်။

وَلَقَدْ آتَيْنَا مُوسَى الْكِتَابَ لَعَلَّهُمْ يَهْتَدُونَ ﴿٤٩﴾

၄၉။ အမှန်သော်ကား (ဖစ်ရ်အောင်န်နှင့် ၎င်း၏ မှူးမတ်များ သေကြေပျက်စီးကြပြီးနောက်) ငါ အရှင်မြတ်သည် တမန်တော်မူစာအား တောင်ရာတ်ကျမ်းဂန်ကို ချီးမြှင့်ပေးသနားတော်မူခဲ့လေသည်။ သို့မှသာလျှင် (တမန်တော်မူစာ၏) ယင်းအစ္စရာအီလီ အမျိုးသားများ တရားလမ်းမှန်ကိုရရှိကြပေမည်။ ၁

---

① **တမန်တော်မူစာနှင့် ဖစ်ရ်အောင်န်**

အလ္လာဟ်အရှင်မြတ်သည် တမန်တော် မူစာနှင့် တမန်တော်ဟာရုန် ညီနောင်နှစ်ပါးတို့အား ထင်ရှားသော သက်သေလက္ခဏာနှင့် အမိန့်ပညတ်တော်များကို ချီးမြှင့်၍ ဖစ်ရ်အောင်န်နှင့် ၎င်း၏မှူးမတ်များထံသို့ စေလွှတ်တော်မူခဲ့လေသည်။ ဖစ်ရ်အောင်န်နှင့် ၎င်း၏မှူးမတ်များသည် အာဏာဂုဏ်၊ဥစ္စာဂုဏ် မောက်မာလျက် ရှိခဲ့ကြ၏။ အစ္စရာအီလီမျိုးနွယ်ဝင်များအား အထင်အမြင်သေးလျက် ရှိခဲ့ကြ၏။ အစ္စရာအီလီမျိုးနွယ်ဝင် ➢➢

وَجَعَلْنَا ابْنَ مَرْيَمَ وَأُمَّهُ آيَةً وَآوَيْنَاهُمَا إِلَىٰ رَبْوَةٍ ذَاتِ قَرَارٍ وَمَعِينٍ ﴿٥٠﴾

၅၀။ စင်စစ် ငါအရှင်မြတ်သည် မရ်ယမ်၏သား တော်(အီစာ)နှင့် ထိုသားတော်၏မယ်တော် (မရ်ယမ်) အား ကြီးကျယ်သော သက်သေလက္ခဏာတော်တစ်ပါး ပြုလုပ်တော်မူခဲ့၏။ ထိုမှတပါး ငါအရှင်မြတ်သည် ထိုသားအမိနှစ်ပါးစလုံးကို တည်းခိုရန် သင့်လျော်၍ စိုပြည်သော၊ စီးတွေသောရေများလည်းရှိသော ကမူ၌ ခိုလှုံစေတော်မူခဲ့၏။ ၁

➤➤ ဖြစ်သော တမန်တော်ညီနောင်နှစ်ပါးတို့အားလည်း အထင်အမြင်သေးလျက်ပင် ရှိခဲ့ကြ၏။ တမန်တော်များသည် လူသား မဖြစ်နိုင်ဟူ၍လည်း ယူဆလျက်ရှိခဲ့ကြ၏။

သို့အထင်အမြင်သေး၊ အထင်အမြင်မှားနေခဲ့ကြသည့်အတွက် ဖစ်ရ်အောင်န်နှင့် ၎င်း၏မှူးမတ်များသည် တမန်တော်မူစာနှင့် တမန်တော်ဟာရုန်တို့အား သွေဖည်ငြင်းဆန်ခဲ့ကြလေသည်။ နောက်ဆုံးတွင် ဖစ်ရ်အောင်န်နှင့် တကွ ၎င်း၏နောက်ပါများသည် ကွပ်မျက်ဖျက်ဆီးခြင်း ခံခဲ့ကြရလေသည်။ ယင်းသို့ ဖစ်ရ်အောင်န်နှင့် ၎င်း၏နောက်ပါများ ကွပ်မျက်ခြင်းခံကြရပြီးနောက် အစ္စရာအီလီ မျိုးနွယ်ဝင်များ လွတ်မြောက်လာကြသည့်အခါ၊ ၎င်းတို့ တရားဓမ္မရကြရန် အလို့ငှာ အလ္လာဟ်အရှင်မြတ်သည် တမန်တော်မူစာအား တောင်ရာတ်ကျမ်းကို ချီးမြှင့်တော်မူခဲ့လေသည်။

ဤအာယတ်တော်တွင် (لعلهم) "လအလ္လဟုမ်"၌ 'ဟုမ်' ဟူသော နာမ်စားသည် ဖစ်ရ်အောင်န်နှင့် မှူးမတ်များအား ရည်ညွှန်းသည်မဟုတ်၊ အစ္စရာအီလီမျိုးနွယ်များအား ရည်ညွှန်းသည်။ အဘယ်ကြောင့်ဆိုသော် တောင်ရာတ်သည် ဖစ်ရ်အောင်န်နှင့် ၎င်း၏နောက်ပါများ ကွပ်မျက်ခြင်းခံကြရပြီး နောက်တွင်မှ ကျရောက်လာခဲ့ခြင်း ဖြစ်သည်။

**(၁) မယ်တော် မရ်ယမ်နှင့် သားတော်အီစာ ခိုလှုံခဲ့ကြသည့်နေရာ။**

ဤအာယတ်တော်တွင် "ငါအရှင်မြတ်သည် ထိုသားအမိ (နှစ်)ဦးတို့အား တည်းခိုရန် သင့်လျော်သော၊ စိုပြည်သာယာသော မြင့်သောနေရာ (ကမူ)တစ်ခု၌ ခိုလှုံစေတော်မူခဲ့သည်"ဟူ၍ လာရှိသည်။ ထိုမြင့်သောနေရာ (ကမူ)ကား အဘယ်နည်း၊

ဤကမူသည် မရ်ယမ်သခင်မ သားတော်ဖွားမြင်ရန်အတွက် သွားရောက်နေထိုင်ခဲ့သော မြေမြင့်(ကမူ) ပင်ဖြစ်တန်ရာသည်။ မရ်ယမ်သခင်မ၏ သားတော် ဖွားမြင်ခဲ့ခြင်းအကြောင်းနှင့် စပ်လျဉ်း၍ ကုရ်အာန် ကျမ်းတော်မြတ်တွင် အောက်ပါအတိုင်း လာရှိသည်။

"ထိုအခါ ထိုသူမ (မရ်ယမ်) အား ၎င်းရှိရာအောက်မှ (ထိုစွန်ပလွံပင်အောက်မှ ကောင်းကင်တမန်က) အသံပြုခဲ့သည်မှာ အသင်မသည် စိတ်မပူလေနှင့်။ ဧကန်စင်စစ် အသင်မအား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်သည် အသင်မ၏အောက်၌ပင် ချောင်းတစ်ခုကို ဖြစ်စေတော်မူပြီ၊ ထိုမှတစ်ပါး အသင်မသည် စွန်ပလွံပင်၏ပင်မကို မိမိဘက်သို့ ဆွဲ၍လှုပ်ပါလေ။ စိမ်းစိုလတ်ဆတ်သော စွန်ပလွံသီးများသည် အသင်မ၏ရှေ့ဝယ် ကြွေကျလာပါလိမ့်မည်"။ ကုရ်အာန်(၁၉း၂၄-၂၅)။

ဤအာယတ်တော်ကို ဆင်ခြင်ပါက၊အဆိုပါနေရာသည် မြင့်သောနေရာဖြစ်ကြောင်း၊ ➤➤

၅၁။ အို-ရစူလ်တမန်တော်အပေါင်းတို့၊ အသင်တို့သည်(ဟလာလ်)စင်ကြယ်သန့်ရှင်းသောအရာများကို စားသုံးကြလေကုန်။ ၎င်းပြင် အသင်တို့သည် ကောင်းမြတ်သောအကျင့်သီလကို ကျင့်မူဆောက်တည်ကြလေကုန်။ [၁] ဧကန်အမှန် ငါအရှင်မြတ်သည် အသင်တို့ ကျင့်မူကြသည်တို့ကို အကြွင်းမဲ့သိတော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူ၏။

يَٰٓأَيُّهَا ٱلرُّسُلُ كُلُواْ مِنَ ٱلطَّيِّبَٰتِ وَٱعۡمَلُواْ صَٰلِحًاۖ إِنِّي بِمَا تَعۡمَلُونَ عَلِيمٞ ٥١

၅၂။ ၎င်းပြင် ဧကန်မလွဲ ဤသည် အသင်တို့၏ သာသနာပင်။တစ်ခုတည်းသောသာသနာ။ ထိုမှတပါး ငါအရှင်မြတ်သည်အသင်တို့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်ပင်ဖြစ်တော်မူပေရာ အသင်တို့သည် ငါအရှင်မြတ်အားသာလျှင် ကြောက်ရွံ့ကြလေကုန်။

وَإِنَّ هَٰذِهِۦٓ أُمَّتُكُمۡ أُمَّةٗ وَٰحِدَةٗ وَأَنَا۠ رَبُّكُمۡ فَٱتَّقُونِ ٥٢

---

>> အောက်တွင် ချောင်း စီးတွေလျက်ရှိကြောင်း၊ အနီးတွင် စွန်ပလွံပင်ရှိကြောင်း၊ ကောင်းစွာ သိနိုင်ပေသည်။ အစ်ဗ်နုကဆီရ်ကလည်း ဤအတိုင်းပင် ဖွင့်ဆိုရေးသားထားသည်။

(၁) **ဟလာလ်ကိုစား၊ ဟရာမ်ကိုရှောင်၊ ကောင်းမြတ်သည်ကိုကျင့်။**

အလ္လာဟ်အရှင်မြတ်သည် ပွင့်လေသမျှသော တမန်တော်အပေါင်းတို့အား ဟရာမ် ဟူဟူသမျှတို့ကို ရှောင်ပြီး၊ ဟလာလ် တရားတော်အရစားသုံးပိုင်သော စင်ကြယ်သန့်ရှင်း အပြစ်ကင်းသည့်အရာများကို ရှာဖွေဆည်းပူးစားသုံး၍ ကောင်းမြတ်သော အကျင့်သီလများကို ဆောက်တည်ကြရန် မိန့်ကြားထားတော်မူသည်။ ပွင့်လေသမျှသော တမန်တော်အပေါင်းတို့သည်လည်း ယင်းအမိန့်တော်နှင့်အညီ အမြဲတစေ ဟလာလ် ပစ္စည်းများကိုသာ စားသုံးခဲ့ကြသည်။ ကောင်းမြတ်သော အကျင့်သီလများကိုသာ ဆောက်တည်ခဲ့ကြသည်။ မိမိတို့၏ အမျိုးသားများအားလည်း ဤအတိုင်းပင် သွန်သင်ဆုံးမဩဝါဒ ပေးခဲ့ကြသည်။

တမန်တော်များအား ညွှန်ကြားထားတော်မူသည့်အတိုင်း မုအ်မင်န်များအားလည်း ရည်ညွှန်းမိန့်ကြားထားတော်မူသည်။ ကြည့်-ကုရ်အာန်(၂း၁၇၂၊ ၅း၈၈၊ ၁၆း၁၁၄)။

တမန်တော်မြတ်၏ ဩဝါဒတော်များတွင် ဟရာမ်ကို စားသောက်၊ ဝတ်ဆင်နေထိုင်သူများသည် မိမိတို့ တောင်းဆိုပန်ကြားသော ဆုပန်ကြားချက်များနှင့် စပ်လျဉ်း၍ မျှော်လင့်ချက်မထားအပ်ကြောင်း၊ ဟရာမ်နှင့် ဖြစ်ပေါ်လာသော အသားသည် ငရဲမီးနှင့်သာလျှင် ထိုက်တန်ကြောင်း လာရှိပေသည်။ ဤအာယတ်တော်ကို ထောက်ရှုခြင်းအားဖြင့် ဟလာလ်ကို စားသုံးခြင်းသည် ကောင်းမြတ်သောအကျင့်သီလကို ဆောက်တည်ရာတွင် အထောက်အမဖြစ်စေကြောင်း ကောင်းစွာသိရှိရပေသည်။ ကြည့်-အစ်ဗ်နုကဆီရ်၊ ဤအာယတ်တော်ကို ထောက်ရှုခြင်းအားဖြင့် အစားကောင်းစားခြင်း၊ အဝတ်ကောင်းဝတ်ခြင်း၊ အနေကောင်းနေခြင်းသည် အစ္စလာမ်နှင့် မဆန့်ကျင်ကြောင်း၊ အစ္စလာမ်၏ လိုလားချက်ဖြစ်ကြောင်း ကောင်းစွာသိရှိနိုင်ပေသည်။

فَتَقَطَّعُوٓا أَمْرَهُم بَيْنَهُمْ زُبُرًا ۖ كُلُّ حِزْبٍۭ بِمَا لَدَيْهِمْ فَرِحُونَ ﴿٥٣﴾

၅၃။ သို့ရာတွင် ထိုနောက်လိုက်များသည် မိမိတို့ အချင်းချင်းတွင် မိမိတို့၏သာသနာကို အပိုင်းပိုင်း ပိုင်းဖြတ်(ကာ အုပ်စုအသီးသီး ဖြစ်သွား)ခဲ့ကြကုန်၏။ အုပ်စုတိုင်းသည် မိမိတို့၌ရှိသော (သာသနာ)နှင့် ပျော်ပိုက်လျက် ရှိကြကုန်၏။ [၁]

فَذَرْهُمْ فِى غَمْرَتِهِمْ حَتَّىٰ حِينٍ ﴿٥٤﴾

၅၄။ သို့ဖြစ်ပေရာ(အို-နဗီတမန်တော်)အသင်သည် ၎င်းတို့အား ၎င်းတို့၏မှောက်မှားမှု၌ပင် သတ်မှတ်ပြီး ဖြစ်သော အချိန်ကာလတိုင်အောင် စွန့်ထားပါလေ။

أَيَحْسَبُونَ أَنَّمَا نُمِدُّهُم بِهِۦ مِن مَّالٍ وَبَنِينَ ﴿٥٥﴾

၅၅။ အသို့ပါနည်း။ ၎င်းတို့သည် ထင်မှတ်ကြလေသလော။ ငါအရှင်မြတ်သည် ၎င်းတို့အား ဥစ္စာပစ္စည်းနှင့် သားရတနာများပေးသနားတော်မူသည်မှာ၊

نُسَارِعُ لَهُمْ فِى ٱلْخَيْرَٰتِ ۚ بَل لَّا يَشْعُرُونَ ﴿٥٦﴾

၅၆။ ၎င်းတို့အား ငါအရှင်မြတ်သည် ကောင်းကျိုးများကို ဆောလျင်စွာ ပေးတော်မူသည်ဟု၊ ထိုသို့ အလျှင်းမဟုတ်၊ စင်စစ်မှာကား ၎င်းတို့သည် မသိနားမလည်ကြချေ။

إِنَّ ٱلَّذِينَ هُم مِّنْ خَشْيَةِ رَبِّهِم مُّشْفِقُونَ ﴿٥٧﴾

၅၇။ ဧကန်စင်စစ် မိမိတို့ကို ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်အား ကြောက်ရွံ့ရိုသေခန့်ညားမှုကြောင့် စိုးရိမ်မကင်း ဖြစ်နေကြသူတို့သည်လည်းကောင်း၊

(၁) ပွင့်လေသမျှသော တမန်တော်အပေါင်းတို့သည် တညီတညွတ်တည်း လက်ခံနာယူ ကျင့်မူခဲ့ကြကုန်သော တစ်ခုတည်းသော သာသနာကို လူများသည် အချင်းချင်းသဘောကွဲလွဲကာ မိမိတို့အာသာဆန္ဒအရ စိတ်တိုင်းကျ၊ အစိတ်စိတ်အမြွှာမြွှာပြုလုပ်ပြီး၊ အသီးသီး "ကိုယ့်ငါးချဉ်၊ ကိုယ်ချဉ်" ဆိုသကဲ့သို့ မိမိတို့က ပြောင်းပြန် ပြုလုပ်ထားသည့် ရုပ်ပျက်ဆင်းပျက် သာသနာကို ရင်ဝယ်ပိုက်ထားကြလေသည်။ မိမိတို့၏ သာသနာမှာ အဘယ်မျှပင် မှားယွင်းနေလင့်ကစား၊ အနည်းငယ်စိုးစဉ်းမျှပင် အလျှော့မပေးလိုကြပေ။ ယင်းသို့သော သူများအား ကျိုးကြောင်းပြ၍ သွန်သင်ဆုံးမဩဝါဒ ပေးသော်လည်း ဗူးနားပင် ရေသွင်းသကဲ့သို့ အကျိုးရှိမည် မဟုတ်ပေ။ ယင်းသို့သော သူများအား ၎င်းတို့၏ မိုက်မဲမှု၊ ဖွတ်တရွတ်မှု၊ သွေဖည်မှုတွင် လျစ်လျူရှုထားရန်သာ ရှိသည်။ [ညွှန်ရာမသွားက သွားရာသို့ ညွှန်ရန်သာရှိသည်။] နောက်ဆုံးတွင် ၎င်းတို့ထံသို့ သေခြင်းတရား ရောက်ရှိလာပေမည်။ သို့မဟုတ် အလ္လာဟ်အရှင်မြတ်ထံတော်မှ ပြစ်ဒဏ်သက်ရောက်လာပေမည်။ ထိုအခါကျမှ မျက်စိပြူးကြမည်။ သို့ရာတွင် အကျိုးရှိတော့မည် မဟုတ်ပေ။

وَالَّذِيْنَ هُمْ بِاٰيٰتِ رَبِّهِمْ يُؤْمِنُوْنَ ﴿٥٨﴾

၅၈။ မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၏ သက်သေလက္ခဏာတော်များကို ယုံကြည်သူတို့သည် လည်းကောင်း၊

وَالَّذِيْنَ هُمْ بِرَبِّهِمْ لَا يُشْرِكُوْنَ ﴿٥٩﴾

၅၉။ မိမိတို့အား ဖန်ဆင်း မွေးမြူတော်မူသော အရှင်မြတ်နှင့် (တစ်စုံတစ်ရာကိုမျှ) တွဲဖက်နိုင်းယှဉ် (ကိုးကွယ်)မှုကို မပြုကြသောသူတို့သည်လည်းကောင်း၊

وَالَّذِيْنَ يُؤْتُوْنَ مَآ اٰتَوْا وَّقُلُوْبُهُمْ وَجِلَةٌ اَنَّهُمْ اِلٰى رَبِّهِمْ رٰجِعُوْنَ ﴿٦٠﴾

၆၀။ အကြင်သူတို့သည်လည်းကောင်း၊ ထိုသူတို့သည် မိမိတို့ ပေးကမ်း(စွန့်ကြဲ) ကြသည်များကို ပေးကမ်း (စွန့်ကြဲ)လျက် ရှိကြငြားသော်လည်း မိမိတို့သည် မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ် အထံတော်သို့ ပြန်သွားကြရမည် ဖြစ်သောကြောင့် ၎င်းတို့၏စိတ်နှလုံးများမှာမူကား ထိတ်လန့် စိုးရိမ်လျက် ရှိကြကုန်၏။ [၁]

اُولٰٓئِكَ يُسٰرِعُوْنَ فِى الْخَيْرٰتِ وَهُمْ لَهَا سٰبِقُوْنَ ﴿٦١﴾

၆၁။ ထိုသူတို့သည် ကောင်းမှုများကို ကြိုးပမ်းဆောင်ရွက်ကြသည် ဖြစ်ပေရာ၊ ၎င်းတို့သည်ပင် ယင်း ကောင်းကျိုးများကို ရှေးဦးစွာ ရရှိကြမည့်သူများ ဖြစ်ကြကုန်သတည်း။

---

(၁) **မုအ်မင်န်တို့ကား ကာဖိရ်များကဲ့သို့ မိမိတို့ကိုယ်ကို မိမိအထင်မကြီးပေ။**

အလ္လာဟ်အရှင်မြတ်အား ယုံကြည်ခန့်ညားသော၊ ထိုအရှင်မြတ်၏ ဒေသနာတော်များကို ယုံကြည်နာယူသော၊ ရှရစ်က်အမှု အစုစုကို ရှောင်ကြဉ်သော၊ ထိုအရှင်မြတ်၏လမ်းတော်၌ ပေးကမ်းလှူဒါန်းသော မုအ်မင်န်များကား မိမိတို့ကိုယ်ကိုမိမိတို့ အထင်ကြီးသော ကာဖိရ်များကဲ့သို့ မဟုတ်ကြပေ။ ထိုအရှင်မြတ်အား ယုံကြည်မြတ်နိုးပါလျက်၊ ထိုအရှင်မြတ်၏ လမ်းတော်၌ အလှူဒါနပြုကြပါလျက်၊ ငါတို့သည် တစ်ချိန်သော် ထိုအရှင်မြတ်၏ထံတော်သို့ ပြန်လည်ရောက်ကြရမည့်အရေးကိုတွေးကာ ဤပစ္စက္ခတွင် ရရှိထားသော လောကီစည်းစိမ်များ မိမိတို့၏အလှူဒါနများနှင့် စပ်လျဉ်း၍ပင် စိုးရိမ်လျက်ရှိကြပေသည်။ အထင်မကြီးကြပေ၊ စိတ်မချကြပေ။ ထိုသို့သော မုအ်မင်န် သူတော်စင်များသာလျှင် ကောင်းမှုများကို သူ့ထက်ငါသာအောင် ဆည်းပူးကြပေသည်။ ဆည်းပူးသည့်အလျောက်လည်း နှစ်ဘက်စလုံးတွင် အောင်မြင်ကြပေသတည်း။ ကြည့်-ကုရ်အာန် (၃း၁၄၇)။

ဟစန်ဘဆွရီသခင်က 'မုအ်မင်န်သည် ကောင်းမှုကုသိုလ်ပြုလုပ်ပြီး နောက်တွင်လည်း စိုးရိမ်လျက်ပင်ရှိသည်။ မုနာဖစ်က်သည် မကောင်းမှုပြုလုပ်ပြီး နောက်တွင်လည်း စိတ်ချလျက်ပင်ရှိသည်' ဟု ဖွင့်ဆိုပြောကြားခဲ့သည်။

وَلَا نُكَلِّفُ نَفْسًا إِلَّا وُسْعَهَا وَلَدَيْنَا كِتَٰبٌ يَنطِقُ بِٱلْحَقِّ وَهُمْ لَا يُظْلَمُونَ ﴿٦٢﴾

၆၂။ အမှန်စင်စစ်ငါအရှင်မြတ်သည် မည်သူတစ်ဦး တစ်ယောက်ကိုမျှ ၎င်း၏ *စွမ်းရည်ထက်ပို၍ တာဝန် ထမ်းဆောင်စေတော်မူသည် မဟုတ်ပေ၊* [၁] ၎င်းပြင် ငါအရှင်မြတ်အထံတော်တွင် မှတ်တမ်းစာအုပ်တစ်အုပ် ရှိနေပေရာ ထိုမှတ်တမ်းစာအုပ်သည် တိကျမှန်ကန်စွာ ထုတ်ဖော်ပြောဆိုမည်ဖြစ်၏။ သို့ရာတွင် ၎င်းတို့သည် (စိုးစဉ်းမျှပင်) မတရား နှိပ်စက်ခြင်းကို ခံကြရမည် မဟုတ်ပေ။ [၂]

بَلْ قُلُوبُهُمْ فِى غَمْرَةٍ مِّنْ هَٰذَا وَلَهُمْ أَعْمَٰلٌ مِّن دُونِ ذَٰلِكَ هُمْ لَهَا عَٰمِلُونَ ﴿٦٣﴾

၆၃။ ထိုသို့အလျှင်းမဟုတ်၊စင်စစ်မှာကား ၎င်းတို့၏ စိတ်နှလုံးများသည် ဤအချက်နှင့်စပ်လျဉ်း၍ မသိ မိုက်မဲမှု၌ပင် ရှိနေကြပေသည်။ ထိုမှတပါး ၎င်းတို့၌ ၎င်းတို့ လုပ်ကိုင် ဆောင်ရွက်လျက်ရှိကြကုန်သော အခြား ဆောင်ရွက်ချက်များလည်း ရှိကြသေး၏။

حَتَّىٰٓ إِذَآ أَخَذْنَا مُتْرَفِيهِم بِٱلْعَذَابِ إِذَا هُمْ يَجْـَٔرُونَ ﴿٦٤﴾

၆၄။ နောက်ဆုံးတွင် ငါအရှင်မြတ်သည် ၎င်းတို့ အနက်မှ စည်းစိမ်ရှင်တို့အား ပြစ်ဒဏ်ဖြင့် ဖမ်းဆီး ကွပ်မျက်တော်မူသောအခါ ၎င်းတို့သည် ရုတ်တရက် အော်ဟစ်ငိုကြွေးကြပေသည်။

---

**(၁) ဝန်နှင့်အား မြားနှင့်လေး။**

အထက်တွင် နှစ်ဘဝစလုံး၌ အောင်မြင်ကြမည့် မုအ်မင်န် သူတော်စင်များ၏ အကျင့်သီလများကို မိန့်ဆိုထားတော်မူသည်။ ထိုသည့် အကျင့်သီလများသည် လူသားတို့ မထမ်းဆောင်နိုင်သော အကျင့်သီလများ မဟုတ်ချေ။ ကျင့်သုံးလိုသည့် စေတနာရှိပါက လွယ်လင့်တကူ ကျင့်သုံးနိုင်ပေသည်။ အလ္လာဟ်အရှင်မြတ်သည် ဝန်နှင့်အား၊ မြားနှင့်လေး၊ ဆိုသကဲ့သို့ မည်သူတစ်ဦးတစ်ယောက်ကိုမျှ စွမ်းဆောင်နိုင်သည်ထက်ပို၍ တာဝန် ထမ်းဆောင်စေတော်မူသည် မဟုတ်ပေ။

ဤသည့်သဘောကို ကုရ်အာန်(၇း၄၂)၏အဖွင့်တွင် အကျယ် ရေးသားခဲ့ပေပြီ။

**(၂) မှတ်တမ်းများ**

အလ္လာဟ်အရှင်မြတ်ထံတော်၌ မှတ်တမ်းများရှိသည်၊ ထိုမှတ်တမ်းတွင် လူတိုင်းလူတိုင်း၏ အကျင့်အမူ ဟူဟူသမျှတို့သည် ရေးမှတ်ပြီးဖြစ်သည်။ ထိုသည့် မှတ်တမ်းများကို ကိယာမတ်နေ့တွင် ကမ္ဘာ့ရှေ့မှောက်၌ ဖွင့်ပြတော်မူမည်ဖြစ်သည်။ ထိုသည့် မှတ်တမ်းများအရ၊ လူသားအားလုံးတို့သည် ကျိုးပြစ်ပေးခြင်း ခံကြရမည် ဖြစ်သည်။ တစ်ဦးတစ်ယောက်မျှ မတရားပြုမူခြင်း အလျှင်းခံရမည်မဟုတ်ပေ။

لَا تَجۡـَٔرُواْ ٱلۡيَوۡمَۖ إِنَّكُم مِّنَّا لَا تُنصَرُونَ ٦٥

၆၅။ (ထိုအခါ ၎င်းတို့သည် ငါအရှင်မြတ်အထံတော်မှ) အသင်တို့သည် ဤနေ့တွင် အော်ဟစ်ငိုကြွေးခြင်းကို မပြုလုပ်ကြကုန်လင့်၊ အကြောင်းသော်ကား (ယနေ့ပင်) အသင်တို့သည် ငါအရှင်မြတ်အထံတော်မှ (မည်သို့မျှ) ကူညီစောင့်မတော်မူခြင်းကို ခံကြရမည် မဟုတ်ပြီ(ဟု အဖြေရရှိကြမည်ဖြစ်၏။) ၁

قَدۡ كَانَتۡ ءَايَٰتِي تُتۡلَىٰ عَلَيۡكُمۡ فَكُنتُمۡ عَلَىٰٓ أَعۡقَٰبِكُمۡ تَنكِصُونَ ٦٦

၆၆။ ဧကန်မလွဲ ငါအရှင်မြတ်၏ အာယတ်တော်များသည် အသင်တို့ရှေ့ဝယ် ဖတ်ကြားခြင်းကို ခံခဲ့ကြရလေသည်။ ထိုအခါ အသင်တို့သည် မိမိတို့၏ ခြေဖနောင့်များသို့ ပြန်ဆုတ်ခဲ့ကြလေသည်။

مُسۡتَكۡبِرِينَ بِهِۦ سَٰمِرٗا تَهۡجُرُونَ ٦٧

၆၇။ မထီလေးစား ပြုလုပ်ကြလျက် ဤ(ကုရ်အာန်ကျမ်းတော်မြတ်)နှင့်စပ်လျဉ်း၍ ညဉ့်အချိန်များတွင် အကြောင်းမဲ့ အချည်းနှီးသော စကားများကို ပြောဆိုကြလျက်။

---

(၁) **ကာဖိရ်များ၏ နောက်ဆုံးဘဝ။**

အထက်တွင် မုအ်မင်န်များ၏အကြောင်းကို မိန့်ဆိုထားတော်မူ၏။ ဤတွင် ကာဖိရ်များ၏အကြောင်းကို မိန့်ဆိုထားတော်မူ၏။ မုအ်မင်န်များသည် နောင်တမလွန်အရေးကို မမေ့ကြ၊ ကာဖိရ်များသည် နောင်တမလွန်အရေးကို မေ့လျက်ရှိကြ၏။ မုအ်မင်န်များသည် အလ္လာဟ်အရှင်မြတ်အား ယုံကြည်၍ ကုသိုလ်ရေးများကို ပြုလုပ်ကြ၏။ ကာဖိရ်များသည် အလ္လာဟ်အရှင်မြတ်အား သွေဖည်၍ အကုသိုလ်ရေးများတွင် နစ်မွန်းလျက်ရှိကြ၏။ ကာဖိရ်နှင့် မုအ်မင်န်များကား ယုံကြည်မှုတွင်လည်းကောင်း၊ အကျင့်အမူတွင်လည်းကောင်း ဖြောင့်ဖြောင့်ကြီး ဆန့်ကျင်လျက် ရှိကြပေသည်။ နောက်ဆုံးတွင် အလ္လာဟ်အရှင်မြတ်သည် ယင်းကာဖိရ်များအနက် စည်းစိမ်ရှင် အကြီးအကဲများကို ဖမ်းဆီးကွပ်မျက်တော် မူမည်ဖြစ်သည်။ ထိုအခါ၎င်းတို့သည် အော်ဟစ်ငိုကြွေးကြမည်။ သို့ရာတွင် ငိုကြွေးခြင်းကား အကျိုးရှိတော့မည်မဟုတ်ပေ။ အဘယ့်ကြောင့်ဆိုသော် နောင်တမလွန်ဘဝသည် ကျိုးပြစ်ပေးရာဌာနဖြစ်သည်။ ကျိုးပြစ်ဆည်းပူးရာဌာန မဟုတ်ပေ။ ဤပစ္စက္ခဘဝသည် ကျိုးပြစ်ဆည်းပူးရာဌာနဖြစ်သည်။ ဤပစ္စက္ခဘဝတွင် ငိုကြွေးခြင်းသည်သာ အကျိုးရှိနိုင်ပေသည်။ ကာဖိရ်များသည် ဤပစ္စက္ခဘဝတွင် ရှိခဲ့ကြစဉ်က အလ္လာဟ်အရှင်မြတ်၏ ဒေသနာတော်များကို ကျောခိုင်းခဲ့ကြသည်၊ မောက်မာပလွှားခဲ့ကြသည်။ ကဲ့ရဲ့ပြစ်တင်ဝေဖန် ပြောဆိုခဲ့ကြသည်။ မကောင်းဆိုခဲ့ကြသည်။ ပစ္စက္ခတွင် သက်တမ်းတစ်လျှောက်လုံး ဆိုးမိုက်ခဲ့ပြီး နောင်တမလွန်ဘဝ ရောက်ခါမှ ငိုကြွေးခြင်းကား အသို့လျှင် အကျိုးရှိအံ့နည်း။

أَفَلَمْ يَدَّبَّرُوا الْقَوْلَ أَمْ جَاءَهُمْ مَا لَمْ يَأْتِ آبَاءَهُمُ الْأَوَّلِينَ ﴿٦٨﴾

၆၈။ သို့ပါလျက် ၎င်းတို့သည် အလ္လာဟ်အရှင်မြတ်၏ (ဤ)အာယတ်တော်(များ)ကို နက်နဲစွာ ဆင်ခြင်သုံးသပ်ခြင်း မပြုခဲ့ကြလေသလော။ သို့တည်းမဟုတ် ၎င်းတို့၏ ရှေးဟောင်း(လူကြီးများဖြစ်ကြသော) အဘ၊ ဘိုး၊ ဘေး၊ ဘီ၊ ဘင်တို့ထံ ရောက်ရှိမလာခဲ့ဘူးသော အရာသည်(ယခု)၎င်းတို့ထံရောက်ရှိလာခဲ့လေသလော။

أَمْ لَمْ يَعْرِفُوا رَسُولَهُمْ فَهُمْ لَهُ مُنْكِرُونَ ﴿٦٩﴾

၆၉။ သို့တည်းမဟုတ် ၎င်းတို့သည် မိမိတို့(ထံပွင့် ရောက်လာသော)ရစူလ်တမန်တော်အား မသိခဲ့ကြသောကြောင့် ထို ရစူလ်တမန်တော်အား ငြင်းပယ်ခဲ့ကြလေသလော။

أَمْ يَقُولُونَ بِهِ جِنَّةٌ ۚ بَلْ جَاءَهُمْ بِالْحَقِّ وَأَكْثَرُهُمْ لِلْحَقِّ كَارِهُونَ ﴿٧٠﴾

၇၀။ သို့တည်းမဟုတ်၎င်းတို့သည် ထို ရစူလ်တမန်တော်၌ ရူးသွပ်ခြင်းဝေဒနာရှိသည်ဟု ပြောဆိုကြလေသလော။ ထိုသို့ အလျှင်းမဟုတ်၊ စင်စစ်မှာကား ထို ရစူလ်တမန်တော်သည် ၎င်းတို့ထံ အမှန်တရားကို ဆောင်ယူခဲ့လေသည်။ သို့ရာတွင် ၎င်းတို့အနက် အများစုမှာမူကား အမှန်တရားကို စက်ဆုပ်သူများပင် ဖြစ်ကြကုန်၏။

وَلَوِ اتَّبَعَ الْحَقُّ أَهْوَاءَهُمْ لَفَسَدَتِ السَّمَاوَاتُ وَالْأَرْضُ وَمَنْ فِيهِنَّ ۚ بَلْ أَتَيْنَاهُمْ بِذِكْرِهِمْ فَهُمْ عَنْ ذِكْرِهِمْ مُعْرِضُونَ ﴿٧١﴾

၇၁။ စင်စစ်သော်ကား အကယ်၍သာ အမှန်တရားသည်(အလ္လာဟ်အရှင်မြတ်သည်) ၎င်းတို့၏အလိုဆန္ဒများကို လိုက်နာခဲ့ပါလျှင်၊ မိုးကောင်းကင်များသည်လည်းကောင်း၊ ပထဝီမြေသည်လည်းကောင်း၊ ယင်းမိုးကောင်းကင်များနှင့်ပထဝီမြေ၌ ရှိသူတို့သည်လည်းကောင်း၊ အမှန်ပင် ပျက်စီးသွားခဲ့ကြမည်သာ။ ထိုသို့ အလျှင်းမဟုတ်၊ စင်စစ်မှာကား ငါအရှင်မြတ်သည် ၎င်းတို့ထံ ၎င်းတို့အဖို့ အဆုံးအမဩဝါဒကို ထုတ်ပြန်ပို့ဆောင်တော်မူခဲ့၏။ သို့ပါလျက် ၎င်းတို့သည် မိမိတို့အဖို့ဖြစ်သော အဆုံးအမဩဝါဒမှပင် မျက်နှာလွှဲခဲ့ကြကုန်၏။

أَمْ تَسْأَلُهُمْ خَرْجًا فَخَرَاجُ رَبِّكَ خَيْرٌ ۖ وَهُوَ خَيْرُ الرَّازِقِينَ ﴿٧٢﴾

၇၂။ သို့တည်းမဟုတ် အသင်သည် ၎င်းတို့ထံ တစ်စုံတစ်ရာ အခကြေးငွေကို တောင်းဆိုလေသလော။ (ဤသို့လည်းမဟုတ်၊ အဘယ့်ကြောင့်ဆိုသော်) အသင့်အားဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်အထံတော်မှ အခကြေးငွေသည် အကောင်းဆုံးပင်။ စင်စစ်သော်ကား ထိုအရှင်မြတ်သည် ရိက္ခာပေးသူတို့အနက် အကောင်းဆုံးသော အရှင်မြတ်ပင် ဖြစ်တော်မူ၏။

وَإِنَّكَ لَتَدْعُوهُمْ إِلَىٰ صِرَاطٍ مُّسْتَقِيمٍ ﴿٧٣﴾

၇၃။ စင်စစ်သော်ကား ဧကန်မလွဲ အသင်သည် ၎င်းတို့အား ဖြောင့်မတ်မှန်ကန်သော တရားမှန်သို့ အမှန်ပင် ဖိတ်ခေါ်လျက် ရှိပေသည်။

وَإِنَّ الَّذِينَ لَا يُؤْمِنُونَ بِالْآخِرَةِ عَنِ الصِّرَاطِ لَنَاكِبُونَ ﴿٧٤﴾

၇၄။ သို့ရာတွင် ဧကန်စင်စစ် တမလွန်ဘဝကို မယုံကြည်သော သူတို့မှာမူကား (ထိုဖြောင့်မတ်မှန်ကန်သော)တရားလမ်းမှ လွဲဖယ်သူများပင် ဖြစ်ကြကုန်၏။

وَلَوْ رَحِمْنَاهُمْ وَكَشَفْنَا مَا بِهِم مِّن ضُرٍّ لَّلَجُّوا فِي طُغْيَانِهِمْ يَعْمَهُونَ ﴿٧٥﴾

၇၅။ စင်စစ်အကယ်၍ ငါအရှင်မြတ်သည် ၎င်းတို့အပေါ်၌သနားကရုဏာပြုတော်မူခဲ့သော်၊ ထို့ပြင် ငါအရှင်မြတ်သည် ၎င်းတို့၌ သက်ရောက်နေသော ဘေးဒုက္ခကိုပပျောက်စေတော်မူခဲ့သော်၊ ၎င်းတို့သည် မိမိတို့၏ လမ်းမှားမှု၌ပင် တဝဲလည်လည် ဖြစ်ကြလျက် ခေါင်းမာမြဲ မာနေကြမည်သာတည်း။

وَلَقَدْ أَخَذْنَاهُم بِالْعَذَابِ فَمَا اسْتَكَانُوا لِرَبِّهِمْ وَمَا يَتَضَرَّعُونَ ﴿٧٦﴾

၇၆။ ၎င်းပြင် မလွဲဧကန် ငါအရှင်မြတ်သည် ထိုသူတို့အား ပြစ်ဒဏ်ဖြင့် ဖမ်းဆီး ကွပ်မျက်တော်မူခဲ့လေသည်။ သို့တစေလည်း ၎င်းတို့သည် မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်၏ ရှေ့တော်မှောက်တွင် ကျိုးနွံ့နိမ့်ကျလာခဲ့ကြသည်လည်း မရှိပေ။ တိုးလျှိုးတောင်းပန်အသနားခံခဲ့ကြသည်လည်း မရှိချေ။

حَتّٰٓى اِذَا فَتَحۡنَا عَلَيۡهِمۡ بَابًا ذَا
عَذَابٍ شَدِيۡدٍ اِذَا هُمۡ فِيۡهِ
مُبۡلِسُوۡنَ ۝٧٧

၇၇။ နောက်ဆုံးတွင်အကြင်အခါဝယ် ငါအရှင်မြတ်
သည် ၎င်းတို့အပေါ်၌ ပြင်းထန်လှသောပြစ်ဒဏ်၏
တံခါးကိုဖွင့်လှစ်တော်မူခဲ့ပါလျှင် ထိုအခါတွင်မူ ၎င်း
တို့သည် မျှော်လင့်ချက် လုံးဝကင်းသွားကြပေမည်၊[၁]

وَهُوَ الَّذِىۡۤ اَنۡشَاَ لَـكُمُ السَّمۡعَ
وَالۡاَبۡصَارَ وَالۡاَفۡـِٕدَةَ ؕ قَلِيۡلًا
مَّا تَشۡكُرُوۡنَ ۝٧٨

၇၈။ စင်စစ်သော်ကား ထိုအရှင်မြတ်သည်ပင် အ
သင်တို့အဖို့နားများကိုလည်းကောင်း၊ မျက်စိများကို
လည်းကောင်း၊စိတ်နှလုံးများကိုလည်းကောင်း၊ ဖန်ဆင်း
တော်မူခဲ့၏။(သို့ရာတွင်) အသင်တို့သည် အနည်းငယ်
စိုးစဉ်းမျှသာလျှင် ကျေးဇူးသိတတ်ကြကုန်၏။

وَهُوَ الَّذِىۡ ذَرَاَكُمۡ فِى
الۡاَرۡضِ وَاِلَيۡهِ تُحۡشَرُوۡنَ ۝٧٩

၇၉။ ၎င်းပြင်၊ထိုအရှင်မြတ်သည်ပင် အသင်တို့အား
ပထဝီမြေဝယ် ပျံ့နှံ့ပွားများစေတော်မူခဲ့သောအရှင်
ဖြစ်တော်မူ၏။ ၎င်းပြင် အသင်တို့သည် ထိုအရှင်မြတ်
အထံတော်သို့ပင် စုရုံးကြရပေမည်။

---

**(၁) တမန်တော်မြတ်နှင့်ကုရ်အာန်ကျမ်းမြတ်ကိုကာဖိရ်များ မလိုက်နာခဲ့ကြသည်မှာ အဘယ်ကြောင့်နည်း။**

(၁) ကာဖိရ်များသည် ကုရ်အာန်ကျမ်းလာ ဤအာယတ်တော်များကို နက်နက်နဲနဲ လေ့လာ စဉ်းစားဆင်ခြင် မြော်မြင်ခြင်း မရှိကြပေ။ အကယ်၍ အမှန်တကယ် စဉ်းစားဆင်ခြင် မြော်မြင်ပါက ကုရ်အာန်သည် အလ္လာဟ်အရှင်မြတ်၏ ကျမ်းဂန်ဖြစ်ကြောင်း၊ လူသားတို့အဖို့ နှစ်ဘဝ၏ ကောင်းကျိုးချမ်းသာ အဖြာဖြာကို ဆောင်ကြဉ်းသော စံမတူ ကမ္ဘာ့ကျမ်းတစ်ဆူဖြစ်ကြောင်း ကောင်းစွာ သဘောပေါက်နိုင်ကြပေသည်။

(၂) အလ္လာဟ်အရှင်မြတ်သည် ကမ္ဘာသူကမ္ဘာသားတို့အား ဖြောင့်မတ်မှန်ကန်သော တရားလမ်းစဉ်ကို ပြသရန်အလို့ငှာ၊ ခေတ်တိုင်း လူမျိုးတိုင်းတွင် တမန်တော်များကို စေလွှတ်တော်မူခဲ့ပေသည်။ ကျမ်းဂန်အစောင်စောင် ကိုလည်း ချပေးတော်မူခဲ့သည်။ သို့ဖြစ်ပေရာ တမန်တော်မြတ် မုဟမ္မဒ် ပွင့်လာတော်မူခြင်းမှာ အထူးအဆန်း မဟုတ်ပေ။ ကုရ်အာန် ကျရောက်လာခြင်းမှာ အဆန်းမဟုတ်ပေ။ တမန်တော်မြတ်သည် တမန်တော်အပေါင်းတို့၏ အချုပ်နှင့်၊ ကုရ်အာန်သည် ကျမ်းဂန်အပေါင်းတို့၏ အချုပ်ဖြစ်သည်။ သို့ဖြစ်ပေရာ ကာဖိရ်များသည် တမန်တော် မြတ်အား ပိုမိုလေးစား၍ ကုရ်အာန်ကျမ်းမြတ်ကို လက်တွေ့ ကျင့်သုံးရန်သာ ရှိကြပေသည်။

(၃) ကာဖိရ်များသည် တမန်တော်မြတ်၏အကြောင်းကို မသိ၍ သွေဖည်နေကြသလော။ ဤသို့မဟုတ်၊ တမန်တော်မြတ်သည် ကလေးဘဝမှပင် မှန်သောစကားကို ဆိုသည်။ မှန်သောအလုပ်ကို လုပ်သည်။ သစ္စာရှိသည်။ ကတိတည်သည်။ ရိုးသားဖြောင့်မတ်သည်။ ဖြူစင်သန့်ရှင်း အပြစ်ကင်းသည်များကို အရပ်တစ်မျိုးသားလုံး သိကြပေသည်။ တမန်တော်မြတ်၏ ရိုးသားဖြောင့်မတ် မှန်ကန်တည်ကြည်မှုနှင့် စပ်လျဉ်း၍ ဂျအ်ဖရ်သခင်သည် အီသီယိုပီယား ဘုရင်ရှေ့မှောက်တွင်လည်းကောင်း၊ မုဃီရဟ်အစ်ဗ်နုရှုဗဟ်သည် ခွတ်စ်ရိုး(Chosroes)➢➢

➤➤ ဘုရင်ခံရှေ့တွင်လည်းကောင်း၊ အဇ္ဇစ္စဖ်ယာန်သည် (Caesan) ရောမဘုရင် ရှေ့မှောက်တွင်လည်းကောင်း၊ အတိအလင်း ဝန်ခံခဲ့ကြပေသည်။ ထိုသို့သော ပုဂ္ဂိုလ်မွန်၊ ပုဂ္ဂိုလ်မြတ်သည် အလ္လာဟ်အရှင်မြတ်နှင့် ပတ်သက်၍ မမှန်သောစကားကို အသို့လျှင် ဆိုနိုင်အံ့နည်း။

(၄) ကာဖိရ်များသည် ကုရ်အာန်၏ မှန်ကန်မှုကို ကောင်းစွာသိကြသည်။ စိတ်တွင်းမှ လက်ခံကြသည်။ သို့ရာတွင် ကုရ်အာန်သည် ၎င်းတို့၏လိုအင်ဆန္ဒနှင့် မကိုက်ညီပေ။ ထို့အတွက် အမှန်တရားကိုပင် ဖုံးကွယ်ကြသည်။ လက်မခံကြပေ။ ထိုမျှမက မိမိတို့၏ အပြစ်ကို ဖုံးကွယ်ရန်အတွက် "အိမ့်ရှင်ကို လူလူဟာစ်" ဆိုသကဲ့သို့ တမန်တော်မြတ်၌ (မပြောကောင်း၊ မဆိုအပ်) ရူးသွပ်မှု ရောဂါဝေဒနာ စွဲကပ်လျက်ရှိသည်ဟူ၍ပင် မဟုတ်မမှန် စွပ်စွဲပြောဆိုခဲ့ကြပေသည်။

(၅) ကာဖိရ်များသည် အမှန်တရားကိုပင် မုန်းတီးပါက ဤသည် ၎င်းတို့၏သဘောပင်၊ အမှန်သည် အမှန်ပင်ဖြစ်သည်။ အမှန်သည် ၎င်းတို့၏အလိုကို မလိုက်လျောနိုင်ပေ။ အမှန်သည် အမှား၏နောက်လိုက် မဖြစ်နိုင်ပေ၊ အကယ်၍ မှန်ကန်သော အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့၏အလိုကို လိုက်လျောနေတော်မူပါက အလ္လာဟ်အရှင်မြတ်သည် အဘယ်မှာလျှင် အလ္လာဟ်အရှင်မြတ် ဖြစ်တော်မူနိုင်အံ့နည်း။ (မပြောအပ် မဆိုအပ်) အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့၏လက်ကိုင်တုတ် ဖြစ်သွားပေမည်။ မိုး၊ မြေ စကြာဝဠာကြီး၏ အစီအစဉ် များလည်း ပျက်စီးယိုယွင်းသွားပေမည်။ လူသားတို့ အာသာဆန္ဒသည် များသောအားဖြင့် မှန်ကန်သော အသိဉာဏ်နှင့်ယှဉ်၍ စီစဉ်ပြုလုပ်ထားသော အစီအစဉ်ကို ဆန့်ကျင်သည်သာမက အချင်းချင်းလည်း ဆန့်ကျင်လျက် ရှိပေသည်။ သို့ဖြစ်ရာ လူသားတို့၏ ဆန့်ကျင်လျက်ရှိသော အာသာဆန္ဒကို လိုက်လျောပါက ကမ္ဘာအိမ်ထောင်စုကြီး သည်ပင် ပျက်ပြုန်းသွားပေမည်။

(၆) ကာဖိရ်များက အကယ်၍ အတိတ်ခေတ်လူမျိုးတို့၏ တရားဓမ္မတစ်ခုခု ကျွန်ုပ်တို့ထံတွင်ရှိပါက ကျွန်ုပ်တို့သည် အလ္လာဟ်အရှင်မြတ်၏ သူတော်စင်များ ဖြစ်ကြပါမည်ဟု တမ်းတခဲ့ကြသည်။ ကြည့်-ကုရ်အာန် (၃၇း၁၆၈-၁၆၉)။ သို့တမ်းတခဲ့ကြသည့်အတိုင်း အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့အား အကျိုး ဖြစ်စေသော တရားဓမ္မကို ၎င်းတို့ထံသို့ ပို့ပေးတော်မူခဲ့သည်။ သို့တစေလည်း ကာဖိရ်များသည် ၎င်းတို့အား အကျိုးပြုသည့် တရားဓမ္မရောက်ရှိလာသည့်အခါ ယင်းသည့် တရားဓမ္မကိုပင် သွေဖည်ကြလေသည်။

(၇) တမန်တော်မြတ်သည် အစ္စလာမ်၏တရားဓမ္မ ဟောကြားတော်မူသည့်အတွက် အဖိုးအခ တစ်စုံတစ်ရာကို တောင်းဆိုတော်မူခဲ့သည်မဟုတ်၊ တောင်းရန်လည်း အကြောင်းမရှိပေ။ တမန်တော်မြတ်အား အလ္လာဟ်အရှင်မြတ် ချီးမြှင့်ထားတော်မူသော ဂုဏ်တော်သည် ၎င်းတို့၏အခကြေးငွေထက် အတိုင်းမသိ ကြီးကဲ မြင့်မြတ်လှပေသည်။

(၈) တမန်တော်မြတ်သည် ၎င်းတို့အား ဖြောင့်မတ်မှန်ကန်သော တရားလမ်းစဉ်သို့သာ ဖိတ်ခေါ်တော်မူခဲ့သည်။ တမန်တော်မြတ်၏ တရားလမ်းစဉ်သည် မှန်ကန်သည် ဖြောင့်ဖြူးသည်။ ကွေ့ကောက် တိမ်းစောင်း ယိမ်းယိုင်သည်မရှိ၊ အမြင်မှန်ရှိသူတိုင်း အလွယ်တကူ နားလည်နိုင်သည်။ ကျင့်သုံးနိုင်သည်။ ယင်းသည့်တရားလမ်းစဉ်ကို ဤပစ္စက္ခဘဝ၏နောက်၌ တမလွန်ဘဝရှိသည်ကို ယုံကြည်သော မိမိတို့၏နောင်ရေးကို စိတ်မအေးသော ပုဂ္ဂိုလ်မွန်တို့သည် လိုက်နာ ကျင့်သုံးကြပေသည်။ နောင်တမလွန်ဘဝကို မယုံကြည်သော နောင်ရေးကို မတွေးတတ်သော သူယုတ်တို့ကား အမှန်တရားကို အဘယ်မှာလျှင် လိုက်နာကြအံ့နည်း။ ၎င်းတို့သည် အမြဲတစေ၊ ကွေးကောက်သော လမ်းစဉ်ကိုပင် လိုက်နာကြပေမည်။

(၉) အလ္လာဟ်အရှင်မြတ်သည် ကာဖိရ်များအား ကယ်တင်၍ သုခချမ်းသာများကို ➤➤

وَهُوَ الَّذِي يُحْيِي وَيُمِيتُ وَلَهُ اخْتِلَافُ اللَّيْلِ وَالنَّهَارِ أَفَلَا تَعْقِلُونَ ﴿٨٠﴾

၈၀။ ထို့ပြင် ထိုအရှင်မြတ်သည်ပင် အသက်ရှင်စေတော်မူသည်၊ အသက်သေစေတော်မူသည်၊ ထိုမှတပါး ညဉ့်နှင့်နေ့တို့၏ (အလှည့်ကျ) အပြောင်းအလဲသည်လည်း ထိုအရှင်မြတ် (လက်တော်တွင်း)၌သာ ရှိပေသည်။ သို့ပါလျက် အသင်တို့သည် အသိဉာဏ်ဖြင့် ဆင်ခြင်သုံးသပ်ခြင်း မပြုကြလေသလော။

بَلْ قَالُوا مِثْلَ مَا قَالَ الْأَوَّلُونَ ﴿٨١﴾

၈၁။ ထိုသို့ အလျှင်းမဟုတ်၊ စင်စစ်မှာကား ၎င်းတို့သည် ရှေးသူဟောင်းတို့ ပြောဆိုခဲ့ကြသည့်နည်းတူ ပြောဆိုကြကုန်၏။

قَالُوا أَإِذَا مِتْنَا وَكُنَّا تُرَابًا وَعِظَامًا أَإِنَّا لَمَبْعُوثُونَ ﴿٨٢﴾

၈၂။ ထိုရှေးသူဟောင်းတို့က ပြောဆိုခဲ့ကြသည်မှာ ကျွန်ုပ်တို့သည် သေဆုံးကြပြီးနောက် မြေကြီးဖြစ်၍ အရိုးများသာ ကျန်ရှိကြသောအခါ၊ ကျွန်ုပ်တို့သည် ရှင်ပြန်ထစေခြင်းကို ခံကြရဦးမည်လော။

---

➤➤ ဖြစ်ထွန်းစေတော်မူပါလျှင်လည်း ၎င်းတို့သည် ကျေးဇူးမသိတတ်ကြပေ။ မိမိတို့၏ ဆိုးသွမ်းမိုက်မဲမှုကို မစွန့်လွှတ်ကြပေ။ တစ်ခါသော် တမန်တော်မြတ်၏ ဆုပန်ကြားချက်အရ မက္ကာမြို့တွင် ဒုဗ္ဘိက္ခန္တရကပ် ဆိုက်ရောက်ခဲ့သည်။ တမန်တော်မြတ်ထံတွင် ကာဖိရ်များ၏ အသနားခံမှုကြောင့် တမန်တော်မြတ်၏ ဆုပန်ကြားချက်ဖြင့်ပင် ယင်းသည့် ဒုဗ္ဘိက္ခန္တရကပ်သည် ကင်းစင်သွားခဲ့လေသည်။ သို့တစေလည်း ကာဖိရ်များသည် ကျေးဇူး မသိတတ်ကြပေ။ 'ခွေးမြီးကောက် ကျည်တောက်စွပ်' ဆိုသကဲ့သို့ ယခင်အတိုင်း ဆိုးမိုက်လျက်ပင် ရှိခဲ့ကြပေသည်။

အထက်တွင် ရေးသားဖော်ပြခဲ့သည့်အတိုင်း တမန်တော်မြတ်နှင့် ကုရ်အာန်ကျမ်းတော်မြတ်ကို ကာဖိရ်များ မလိုက်နာကြခြင်းမှာ တမန်တော်မြတ်၌သော် လည်းကောင်း၊ ကုရ်အာန်ကျမ်းမြတ်၌သော် လည်းကောင်း၊ တစ်စုံတစ်ရာအပြစ်ရှိ၍ မဟုတ်ပေ။ အမှန်တရားကို သိပါလျက်နှင့် မိမိတို့၏ အာသာဆန္ဒနှင့်မကိုက်ညီ၍ မလိုက်နာကြခြင်းသာ ဖြစ်သည်။ ယင်းသို့သော ကာဖိရ်များသည် အတိုင်းမသိ မခံမရပ်နိုင်သော ပြင်းထန်လှသည့် အလ္လာဟ်အရှင်မြတ်၏ ပြစ်ဒဏ်ကို ဤပစ္စက္ခဘဝတွင်သော် လည်းကောင်း၊ နောင်တမလွန်ဘဝတွင်သော် လည်းကောင်း၊ (နောင်တမလွန်ဘဝတွင် ခံစားကြရမည်မှာ အမှန်ပင်)၊ ခံစားကြရသည့် အခါတွင်မူကား၊ ၎င်းတို့၏ မိုက်မဲမှုများ အပျောက်ကြီးပျောက်ကာ မျှော်လင့်ချက်လုံးဝကင်းပြီး မိမိတို့ မိုက်မဲခဲ့ကြသည့်အကြောင်း ကောင်းကောင်း သိသွားကြပေမည်။

| | |
|---|---|
| ၈၃။ "မချွတ်ဧကန် ဤသည်ကို ကျွန်ုပ်တို့သည်လည်းကောင်း၊ ကျွန်ုပ်တို့၏အဘ၊ ဘိုး၊ ဘေးတို့သည်လည်းကောင်း၊ ရှေးယခင်ကပင် ကတိပေး ချိန်းချက်ခြင်းကို ခံခဲ့ကြရလေပြီ။ (စင်စစ်သော်ကား) ဤသည် ရှေးသူဟောင်းတို့၏ (ယုတ္တိကင်းမဲ့သော) ဒဏ္ဍာရီမျှသာ ဖြစ်ချေသတည်း။" | لَقَدْ وُعِدْنَا نَحْنُ وَآبَاؤُنَا هَٰذَا مِن قَبْلُ إِنْ هَٰذَا إِلَّا أَسَاطِيرُ الْأَوَّلِينَ ﴿٨٣﴾ |
| ၈၄။ (အို-နဗီတမန်တော်) အသင်သည် (ယင်းမက္ကာမြို့သား မုရှ်ရစ်က်တို့အား ဤသို့)ပြောဆိုမေးမြန်းပါလေ။ (အချင်းတို့၊) အကယ်၍ အသင်တို့သိရှိကြလျှင် (ငါ့အား ပြောပြကြလေကုန်၊) ပထဝီမြေကိုလည်းကောင်း၊ ထိုပထဝီမြေ၌ရှိသူတို့ကိုလည်းကောင်း၊ မည်သူ စိုးပိုင်သနည်း။ | قُل لِّمَنِ الْأَرْضُ وَمَن فِيهَا إِن كُنتُمْ تَعْلَمُونَ ﴿٨٤﴾ |
| ၈၅။ ၎င်းတို့က အလ္လာဟ်အရှင်မြတ် စိုးပိုင်တော်မူသောအရာများဖြစ်သည်ဟု အမှန်ပင် ဖြေကြားကြပေလိမ့်မည်။ (ထိုအခါ) အသင်သည် (၎င်းတို့အား အချင်းတို့၊) သို့ပါလျက် အသင်တို့သည် မဆင်ခြင်မသုံးသပ်ကြလေသလောဟု ပြောကြားပါလေ။ | سَيَقُولُونَ لِلَّهِ ۚ قُلْ أَفَلَا تَذَكَّرُونَ ﴿٨٥﴾ |
| ၈၆။ (အို-နဗီတမန်တော်)အသင်သည်(၎င်းတို့အား အချင်းတို့၊) မိုးခုနစ်ထပ်ကို စိုးပိုင်တော်မူသောအရှင်သည်လည်းကောင်း၊မြင့်မြတ်လှစွာသော'အရ်ရှ်' ပလ္လင်တော်ကို စိုးပိုင်တော်မူသောအရှင်သည်လည်းကောင်း၊ မည်သူနည်းဟု မေးမြန်းပါဦးလေ။ | قُلْ مَن رَّبُّ السَّمَاوَاتِ السَّبْعِ وَرَبُّ الْعَرْشِ الْعَظِيمِ ﴿٨٦﴾ |
| ၈၇။ (ဤသည်တို့လည်း) အလ္လာဟ်အရှင်မြတ် စိုးပိုင်တော်မူသောအရာများသာဖြစ်သည်ဟု ၎င်းတို့က အမှန်ပင် ဖြေကြားကြပေလိမ့်မည်။ | سَيَقُولُونَ لِلَّهِ ۚ قُلْ أَفَلَا تَتَّقُونَ ﴿٨٧﴾ |

(ထိုအခါ၌ ၎င်းတို့အား အချင်းတို့၊) သို့ပါလျက် အသင်တို့သည်(အလ္လာဟ်အရှင်မြတ်အား) မကြောက်ရွံ့ ကြလေသလောဟု ပြောကြားပါလေ။

قُلْ مَنۢ بِيَدِهِۦ مَلَكُوتُ كُلِّ شَىْءٍ وَهُوَ يُجِيرُ وَلَا يُجَارُ عَلَيْهِ إِن كُنتُمْ تَعْلَمُونَ ﴿٨٨﴾

၈၈။ (အို-နဗီတမန်တော်) အသင်သည် ၎င်းတို့အား ဤသို့ ပြောဆိုမေးမြန်းပါလေ။ (အချင်းတို့) အကယ်၍ အသင်တို့သည် သိရှိကြလျှင် (ငါ့အား ပြောပြကြလေကုန်)။ ထိုအရှင်သည် မည်သူနည်း။ အရာခပ်သိမ်းတို့ကို စိုးပိုင်ခွင့်သည် ထိုအရှင်မြတ်၏လက်တော်တွင်း၌ရှိ၏။ ၎င်းပြင် ထိုအရှင်မြတ်သည် ကာကွယ်စောင့်ရှောက်တော်မူ၏။ သို့ရာတွင် ထိုအရှင်နှင့်ဆန့်ကျင်၍မူကား မည်သူတစ်ဦးတစ်ယောက်မျှပင် ကာကွယ်စောင့်ရှောက်နိုင်ခြင်း မရှိချေ။

سَيَقُولُونَ لِلَّهِ ۚ قُلْ فَأَنَّىٰ تُسْحَرُونَ ﴿٨٩﴾

၈၉။ (ဤမည်သောဂုဏ်တော်များလည်း) အလ္လာဟ်အရှင်မြတ်၌သာ ရှိကြောင်း အမှန်ပင် ၎င်းတို့က ဖြေကြားကြပေလိမ့်မည်။(ထိုအခါ၌ ၎င်းတို့အား) အသင်က "သို့ဖြစ်လျှင် အသင်တို့သည် အဘယ်ကြောင့် တွေဝေနေကြပါသနည်း" ဟု ပြောကြားပါလေ။

بَلْ أَتَيْنَٰهُم بِٱلْحَقِّ وَإِنَّهُمْ لَكَٰذِبُونَ ﴿٩٠﴾

၉၀။ ထိုသို့ အလျှင်းမဟုတ်။ စင်စစ်မှာကား ငါ အရှင်မြတ်သည် ၎င်းတို့ထံ အမှန်တရားကို ထုတ်ပြန်ပို့ဆောင်တော်မူခဲ့၏။ ထို့ပြင် ၎င်းတို့သည် (ထို) အမှန်တရားကို ငြင်းပယ်ရာတွင် မသားပြောဆိုသူများပင် ဖြစ်ကြကုန်သတည်း။ [၁]

---

(၁) **ကာဖိရ်များသည် အလ္လာဟ်အရှင်မြတ်အား သိပါလျက်နှင့် မသားပြောဆိုနေကြသည်။**

ဤကမ္ဘာမြေကြီးနှင့်တကွ ယင်းကမ္ဘာအတွင်းရှိ အရာခပ်သိမ်းတို့ကို အလ္လာဟ်အရှင်မြတ်သာလျှင် စိုးပိုင်တော်မူကြောင်း၊ မိုးခုနစ်ထပ်နှင့် ပလ္လင်မြတ်ကိုလည်း ထိုအရှင်မြတ်သာလျှင် စိုးပိုင်တော်မူကြောင်း၊ အရာခပ်သိမ်းကုန်တို့၏ စိုးမိုးအုပ်ချုပ်မှု အာဏာစက်သည်လည်း ထိုအရှင်မြတ်၏ လက်တော်တွင်း၌သာလျှင် ရှိကြောင်း၊ ထိုအရှင်မြတ်သည် သူတစ်ပါးတို့အား ကာကွယ်စောင့်ရှောက်တော်မူကြောင်း၊ ထိုအရှင်မြတ်နှင့် ➤➤

مَا اتَّخَذَ اللّٰهُ مِنْ وَّلَدٍ وَّمَا كَانَ مَعَهٗ مِنْ اِلٰهٍ اِذًا لَّذَهَبَ كُلُّ اِلٰهٍۢ بِمَا خَلَقَ وَلَعَلَا بَعْضُهُمْ عَلٰى بَعْضٍ ؕ سُبْحٰنَ اللّٰهِ عَمَّا يَصِفُوْنَ ﴿٩١﴾

၉၁။ အလ္လာဟ် အရှင်မြတ်သည် သားတော်ဟူ၍ တစ်ဦးတစ်ယောက်မျှပင် ရွေးချယ်ပြုလုပ်ထားတော်မူသည် မဟုတ်ပေ။ ထိုနည်းတူစွာ ထိုအရှင်နှင့်အတူ ကိုးကွယ်ရာဟူ၍လည်း (အခြား) တစ်ဦးတစ်ယောက်မျှပင် အလျှင်းမရှိချေ။ [၁] သို့ရှိခဲ့ပါမူ ကိုးကွယ်ရာတိုင်းသည် မိမိဖန်ဆင်းထားသောအရာခပ်သိမ်းတို့ကို အမှန်ပင် ခေါ်ဆောင်၍ ထွက်ခွာသွားခဲ့မည်သာမက၊ ထိုကိုးကွယ်ရာတို့အနက် တစ်ဦးသည်တစ်ဦး၏အပေါ်၌ မုချလွှမ်းမိုးခဲ့မည်သာ။ အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့ ကြံဖန်စွပ်စွဲ ပြောဆိုကြကုန်သော အကြောင်းကိစ္စတို့မှ လုံး၀ စင်ကြယ်သန့်ရှင်းတော်မူ၏။

عٰلِمِ الْغَيْبِ وَالشَّهَادَةِ فَتَعٰلٰى عَمَّا يُشْرِكُوْنَ ﴿٩٢﴾

၉၂။ မျက်ကွယ်၌ ရှိသမျှတို့ကိုလည်းကောင်း၊ မျက်မှောက်၌ရှိသမျှတို့ကိုလည်းကောင်း၊ အကြွင်းမဲ့ သိမြင်တော်မူသောအရှင်၊ သို့ဖြစ်ပေရာ ထိုအရှင်မြတ်သည် ၎င်းတို့ တွဲဖက်နှိုင်းယှဉ်ကိုးကွယ်ကြသည်တို့ထက် လွန်စွာ မြင့်မြတ်လှတော်မူပေသတည်း။

---

➤➤ ဆန့်ကျင်၍ကား တစ်ဦးတစ်ယောက်သည် မည်သူ တစ်ဦးတစ်ယောက်ကိုမျှ ကာကွယ်စောင့်ရှောက်နိုင်သည် မဟုတ်ကြောင်းများကို မက္ကာမြို့သား ကာဖိရ်များသည် ကောင်းစွာသိကြသည်။ ဝန်ခံကြသည်။ ထို့ပြင်တစ်ဝ၊ အလ္လာဟ်အရှင်မြတ်ထံတော်မှ ၎င်းတို့ထံသို့ အမှန်တရားလည်း ရောက်ရှိခဲ့ချေပြီ။

သို့ပါလျက် သေပြီးနောက် ပြန်လည်ရှင်ပြန်ထရေးနှင့် စပ်လျဉ်း၍ ဤသည် ရှေးသူဟောင်းတို့၏ ဒဏ္ဍာရီများသာဖြစ်သည်ဟု ဆိုကြခြင်းမှာ တမင်မုသားပြောဆိုခြင်း သာလျှင်ဖြစ်ပေသည်။ ထို့မျှ တန်ခိုးတော်အနန္တနှင့် ပြည့်စုံတော်မူသော အရှင်မြတ်၏ အာဏာစက်အတွင်းမှ လူသားတို့သည် အသို့လျှင် လွတ်မြောက်ထွက်ခွာနိုင်ကြအံ့နည်း။ ထိုသို့သော အရှင်မြတ်အဖို့ လူသားတို့အား ပြန်လည်ရှင်ပြန်ထစေတော် မူရန်ကိစ္စမှာ အသို့လျှင် အခက်အခဲ ရှိနိုင်အံ့နည်း။

(၁) <u>အလ္လာဟ်အရှင်မြတ်နှင့် ဂုဏ်ရည်တူမရှိ</u>

တန်ခိုးတော်အနန္တ၊ ဉာဏ်တော်အနန္တနှင့် ပြည့်စုံတော်မူသော အလ္လာဟ်အရှင်မြတ်သည် တစ်ဆူတည်းဖြစ်တော်မူ၏။ ထိုအရှင်မြတ်၌ သားသမီး သံယောဇဉ် အလျှင်းမရှိ၊ ရှိရန်လည်း အလျှင်းမဖြစ်နိုင်၊ ထိုအရှင်မြတ်၌ ဂုဏ်ရည်တူလည်းမရှိ၊ ထိုအရှင်မြတ်မှတစ်ပါး အခြားကိုးကွယ်ရာလည်းမရှိ၊ အကယ်၍ ဂုဏ်ရည်တူရှိခဲ့သော် စင်ပြိုင်ကိုးကွယ်ရာများ ရှိခဲ့ကြသော်၊ ၎င်းတို့သည် အသီးသီး မိမိတို့ဖန်ဆင်းထားသော ပိုင်ဆိုင်သော ➤➤

قُل رَّبِّ إِمَّا تُرِيَنِّي مَا يُوعَدُونَ ﴿٩٣﴾

၉၃။ (အို-နဗီတမန်တော်) အသင်သည် (ဤသို့) လျှောက်ထားပါလေ။ အို-ကျွန်တော်မျိုး၏အရှင်မြတ်၊ အကယ်၍ အရှင်မြတ်သည် ထို(ကာဖိရ် သွေဖည် ငြင်းပယ်သော)သူတို့ ချိန်းချက်ခြင်းခံကြရကုန်သော (ပြစ်ဒဏ်)ကို ကျွန်တော်မျိုးအား ပြသတော်မူလျှင်၊

رَبِّ فَلَا تَجْعَلْنِي فِي الْقَوْمِ الظَّالِمِينَ ﴿٩٤﴾

၉၄။ အို-ကျွန်တော်မျိုး၏ အရှင်မြတ်၊ ထိုအခါ အရှင်မြတ်သည်ကျွန်တော်မျိုးအား မတရား ကျူးလွန်သော အမျိုးသားတွင် ပါဝင်စေတော်မမူပါနှင့်၊[၁]

وَإِنَّا عَلَىٰ أَن نُّرِيَكَ مَا نَعِدُهُمْ لَقَادِرُونَ ﴿٩٥﴾

၉၅။ စင်စစ်သော်ကား ဧကန်မလွဲ ငါအရှင်မြတ်သည် ၎င်းတို့အား ချိန်းချက်တော်မူသော(ပြစ်ဒဏ်ကို) အသင့်အား ပြသတော်မူရန် တတ်စွမ်းနိုင်တော်မူသော အရှင် အမှန်ပင် ဖြစ်တော်မူ၏။

ادْفَعْ بِالَّتِي هِيَ أَحْسَنُ السَّيِّئَةَ ۚ نَحْنُ أَعْلَمُ بِمَا يَصِفُونَ ﴿٩٦﴾

၉၆။ (အို-နဗီတမန်တော်)အသင်သည် (ထိုကာဖိရ် သွေဖည်ငြင်းပယ်သောသူတို့၏) *ဆိုးရွားသောပြုမူချက်တို့ကို အကောင်းဆုံးသောနည်းဖြင့် တွန်းလှန်ပါလေ၊* ငါအရှင်မြတ်သည် (အသင့်အား) ၎င်းတို့ ကြံဖန်ပြောဆို စွပ်စွဲကြသည်များကို ကောင်းစွာ သိရှိတော်မူပေသည်။

---

➤➤ အရာများကို ယူဆောင် သိမ်းပိုက်ကြပေမည်။ အချင်းချင်း ပြိုင်ဆိုင်တိုက်ခိုက်ကြပေမည်။ အချို့တောခိုကြပေမည်။ စင်ပြိုင်အစိုးရ တောင်းကြပေမည်။ အဖျက်လုပ်ငန်းများ ပြုလုပ်ကြပေမည်။ မစားရသည့်အမဲ သဲနဲ့ပက် ဆိုသကဲ့သို့လည်းကောင်း၊ 'မင်းသားကြီးမလုပ်ရ - ပတ်မကြီးထိုးဖောက်' ဆိုသကဲ့သို့လည်းကောင်း၊ ကမ္ဘာ့အိမ်ထောင်စုကြီးကို မီးတင်ရှို့ကြပေမည်။ သို့ဖြစ်လျှင် ကမ္ဘာ့အိမ်ထောင်စုကြီးသည် မနိုင်းစကောင်း၊ 'ကျွဲနှစ်ကောင်ခတ်သည့်ကြား မြေဇာပင် မခံနိုင်' ဆိုသကဲ့သို့ ပျက်ပြုန်း ဆိတ်သုဉ်းသွားပေမည်။

(၁) **မိမိပတ်ဝန်းကျင်၌ သက်ရောက်သော ပြစ်ဒဏ်စက်ကွင်း မမိရန်ဆုပန်ကြားတော်မူခြင်း။**

အထက်တွင် ပါရှိသည့်အတိုင်း အလ္လာဟ်အရှင်မြတ်နှင့် ပတ်သက်၍ ကာဖိရ်များ အလွန်အကျွံ မလေးမခန့် ပြုလုပ်လာကြသည့်အခါ ထိုအရှင်မြတ်၏ ထံတော်မှ အနေးနှင့်အမြန် ပြစ်ဒဏ်သက်ရောက်မည်မှာ အမှန်ပင်ဖြစ်သည်။ ထို့အတွက် ထိုကာဖိရ်များ၏ ပတ်ဝန်းကျင်တွင် နေထိုင်ကြသော မုအ်မင်န်တို့အား ယင်းကာဖိရ်များ၌ သက်ရောက်သော ပြစ်ဒဏ်၏စက်ကွင်းတွင် မိမိတို့ မမိကြရန်အတွက် ဆုပန်ကြား➤➤

وَقُلْ رَّبِّ اَعُوْذُبِكَ مِنْ هَمَزٰتِ الشَّيٰطِيْنِ ﴿٩٧﴾

၉၇။ ၎င်းပြင် အသင်သည် (ဤသို့) လျှောက်ထား ပန်ကြားပါလေ။ အို-ကျွန်တော်မျိုး၏ အရှင်မြတ်၊ ကျွန်တော်မျိုးသည် ရှိုင်တွာန် မိစ္ဆာကောင်တို့၏ တိုက်တွန်းနှိုးဆော်ချက်တို့မှ (လွတ်ကင်းရန်) အရှင်မြတ်၏ အကာအကွယ်ကို ရလိုပါ၏။

وَاَعُوْذُبِكَ رَبِّ اَنْ يَّحْضُرُوْنِ ﴿٩٨﴾

၉၈။ ထိုနည်းတူစွာ ကျွန်တော်မျိုးသည် မိမိထံသို့ ထိုရှိုင်တွာန် မိစ္ဆာကောင်များ ရောက်ရှိမလာနိုင်ကြရန် လည်း အရှင်မြတ်၏အကာအကွယ်ကိုရလိုပါ၏။ ၁

---

➤➤ စေတော်မူခြင်းပင်ဖြစ်သည်။ တမန်တော်မြတ်သည် အောက်ပါအတိုင်း ဆုပန်ကြားတော် မူခဲ့လေသည်။ "အရှင်မြတ်သည် လူမျိုးတစ်မျိုး၌ ပြစ်ဒဏ်သက်ရောက်စေရန် ရည်ရွယ်တော်မူပါလျှင်၊ အရှင်မြတ်သည် ကျွန်တော်မျိုးအား ပြစ်ဒဏ်သက်ရောက်စေခြင်း မခံရသူအဖြစ်နှင့် ကွယ်လွန် သေဆုံးစေတော်မူပါ။"

② **အဆိုးကို အကောင်းနှင့် တုံ့ပြန်**

အလ္လာဟ်အရှင်မြတ်သည် ကာဖိရ်များအား ဤပစ္စက္ခတွင် တမန်တော်မြတ်၏ မျက်စိအောက်၌ပင် ပြစ်ဒဏ်ခတ်တော် မူနိုင်သည်။ ကာဖိရ်များသည် အဘယ်မျှပင် ဆိုးသွမ်းမိုက်မဲလင့်ကစား တမန်တော်မြတ်ကိုယ်တိုင်ကမူ အဆိုးကိုအကောင်းနှင့်ပင် တုံ့ပြန်ဖယ်ရှားရမည် ဖြစ်ကြောင်း၊ မိမိ၏စိတ်ကို ထိန်းသိမ်းရမည် ဖြစ်ကြောင်း၊ နူးညံ့သိမ်မွေ့စွာ ဆက်ဆံခြင်းဖြင့် ကာဖိရ်များအနက် အချို့တို့သည် အစ္စလာမ်ဘက်သို့ ယိမ်းယိုင်လာကြမည် ဖြစ်ကြောင်း၊ ဤသို့အားဖြင့် တရားဓမ္မ ဟောကြားခြင်း၏ ရည်ရွယ်ချက်လည်း ထမြောက်အောင်မြင်မည် ဖြစ်ကြောင်း၊ အလ္လာဟ်အရှင်မြတ်သည် တမန်တော်မြတ်နှင့် ပတ်သက်၍ ယင်းကာဖိရ်များ မဟုတ်မမှန် ပြောဆိုနေကြ သည်များကို အကြွင်းမဲ့ သိတော်မူသည်ဖြစ်ရာ အချိန်တန်က ပြစ်ဒဏ်ကို တပ်ရိုက်သင့်သူများအား ပြစ်ဒဏ် တပ်ရိုက်တော်မူ မည်ဖြစ်ကြောင်း ဤအာယတ်တော်တွင် မိန့်ဆိုထားတော်မူသည်။ အဆိုးကိုအကောင်းဖြင့် တုံ့ပြန်ဖယ်ရှားရမည့်အကြောင်း၊ ကုရ်အာန် (၄၁း၃၃-၃၆)တွင် မိန့်ဆိုထားတော်မူသည်။

③ **ရှိုင်တွာန်၏ အနှောင့်အယှက်မှ ကင်းလွတ်ရန်ဆေးနည်း။**

အထက်တွင် လူရှိုင်တွာန်များနှင့် မည်သို့မည်ပုံ ဆက်ဆံရမည့်အကြောင်း မိန့်ဆိုထားတော်မူသည်။ ယခု ဤအာယတ်တော်တွင် ဂျင်န်ရှိုင်တွာန်များနှင့် မည်သို့ မည်ပုံဆက်ဆံရမည့်အကြောင်း မိန့်ဆိုထားတော်မူသည်။ ဂျင်န်ရှိုင်တွာန်များသည်၊ လူရှိုင်တွာန်များနှင့် မတူချေ။ ဂျင်န်ရှိုင်တွာန်များသည် လူရှိုင်တွာန်များကဲ့သို့ နူးညံ့စွာဆက်ဆံမှု၊ အဆိုးကိုအကောင်းဖြင့် တုံ့ပြန်မှုစသည့် မည်သည့်နည်းနှင့်မျှ ယိမ်းညွတ်သည်မရှိပေ။ ၎င်းတို့၏အနှောင့်အယှက်မှ လွတ်ကင်းရန် တစ်ခုတည်းသောဆေးမှာ၊ အလ္လာဟ်အရှင်မြတ် အထံတော်၌ ခိုလှုံခြင်းသာဖြစ်သည်။ ထို့အတွက် တမန်တော်မြတ်အားလည်း ဂျင်န်ရှိုင်တွာန်များ၏ အနှောင့်အယှက်မှ လွတ်ကင်းရန်အတွက် အလ္လာဟ်အရှင်မြတ် ထံတော်၌ ခိုလှုံရန် မိန့်ကြားထားတော်မူသည်။

حَتّٰٓى اِذَا جَآءَ اَحَدَهُمُ الْمَوْتُ قَالَ رَبِّ ارْجِعُوْنِ ﴿٩٩﴾

၉၉။ (ထို ကာဖိရ်တို့သည် နောင်တရကြမည့်သူ မဟုတ်ပေ၊) နောက်ဆုံးတွင် ၎င်းတို့အနက် တစ်ဦး တစ်ယောက်၏ထံသို့ မရဏာသေခြင်းတရားသည် ရောက်ရှိလာသောအခါ၊ ထိုသူသည် (ဤသို့) လျှောက်ထားလေ၏။ "အို-ကျွန်တော်မျိုးအား ဖန်ဆင်း မွေးမြူတော်မူသော အရှင်မြတ်၊ အရှင်မြတ်သည် ကျွန်တော်မျိုးအား ပြန်လွှတ်တော်မူပါ။ ၁

لَعَلِّىْٓ اَعْمَلُ صَالِحًا فِيْمَا تَرَكْتُ كَلَّا ؕ اِنَّهَا كَلِمَةٌ هُوَ قَآئِلُهَا ؕ وَمِنْ وَّرَآئِهِمْ بَرْزَخٌ اِلٰى يَوْمِ يُبْعَثُوْنَ ﴿١٠٠﴾

၁၀၀။ ကျွန်တော်မျိုးသည် မိမိ စွန့်ထားခဲ့သော (လောကသို့ ပြန်သွား၍) ကောင်းမြတ်သောအကျင့် သီလကို ကျင့်မှုဆောက်တည်အံ့သောငှာ၊ "အလျှင်း မဖြစ်နိုင်ပြီ။ စေကန်စင်စစ် ဤသည်ကား ထိုသူသည် (မိမိနှုတ်ဖြင့်သာ)ပြောဆိုနေသောစကားတစ်ခွန်းမျှပင်။ စင်စစ်၎င်းတို့၏ရှေ့ဝယ် ၎င်းတို့ ရှင်ပြန်ထကြရမည့်နေ့ တိုင်အောင်အကာအဆီးတစ်ခု ရှိနေချေပြီတကား"၊ ၂

---

(၁) **အသက်ငင်မှ နောင်တရက အကျိုးမရှိပြီ။**

ကာဖိရ်များသည် အသက်ငင်၍ "ဗရ်ဇခ်"၏ ပြစ်ဒဏ်၏ အစအနများကို စတင်တွေ့မြင် လာရသောအခါ နောင်တရကာ အလ္လာဟ်အရှင်မြတ် ထံတော်၌ အရှင်မြတ်-အရှင်မြတ်သည် ကျွန်တော်မျိုးအား သင်္ချိုင်းသို့ ပို့တော်မမူပါနှင့်ဦး၊ ကျွန်တော်မျိုးအား လူ့လောကသို့ ပြန်လွှတ်ပေးတော်မူပါ။ ကျွန်တော်မျိုးသည် မိမိသက်တမ်းတွင် မိုက်မှားခဲ့သည်များကို ပြုပြင်ပါမည်။ ကောင်းမြတ်သော အကျင့်သီလများကို ဆောက်တည် ပါမည်။ ပြစ်မှုများကို မေ့မှား၍ပင် ကျူးလွန်တော့မည်မဟုတ်ပါ စသည်ဖြင့် လျှောက်ထားပန်ကြားပေမည်။ ဤသည့်သဘောကို ကုရ်အာန်(၆၃း၁၀) တွင်လည်း မိန့်ဆိုထားတော်မူသည်။

ထိုအချိန်ကျမှ နောင်တရခြင်းကား အကျိုးမရှိပြီ၊ လူ့လောကသို့ ပြန်လာရတော့မည်လည်း မဟုတ်ပေ။ အကယ်၍ လူ့လောကသို့ ပြန်လည်ပို့ဆောင်ခြင်း ခံရပါကလည်း ယင်း ကာဖိရ်များသည် "ခွေးမြီးကောက် ကျည်တောက်စွပ်" ဆိုသကဲ့သို့ ဆိုးမိုက်မြဲတိုင်း ဆိုးမိုက်ကြမည်သာဖြစ်သည်။ ကြည့်-ကုရ်အာန် (၆း၂၈)။

(၂) **ဗရ်ဇခ်ဘဝ။**

ကာဖိရ်များသည် သေခြင်းတရားကိုမြင်၍ ဤရွေ့ဤမျှ စိုးရိမ်ကြောက်ရွံ့ လျက်ရှိချေပြီ၊ ရှေ့တွင် "ဗရ်ဇခ်"ရှိသည်။ ဗရ်ဇခ်၏နောက်တွင် "ကိယာမတ်" ရှိသေးသည်။ ဗရ်ဇခ်တွင် လူသည် လူ့လောကသားတို့ မမြင်နိုင်သော အခြေအနေသို့ ရောက်ရှိသွားပေသည်။ နောင်တမလွန် ဘဝကား မရောက်ရှိသေးပေ။ သို့ရာတွင် ဗရ်ဇခ်၌ နောင်တမလွန်ဘဝ၏ ပြစ်ဒဏ်နမူနာ အနည်းငယ်ကိုမူ ကိယာမတ်တိုင် ခံစားရမည်ဖြစ်သည်။ ➢➢

فَإِذَا نُفِخَ فِي الصُّورِ فَلَا أَنسَابَ بَيْنَهُمْ يَوْمَئِذٍ وَلَا يَتَسَاءَلُونَ ﴿١٠١﴾

၁၀၁။ ထို့နောက် တံပိုးမှုတ်သောအခါ ၎င်းတို့ အချင်းချင်းတွင် သွေးတော်စပ်ခြင်းများလည်း အလျှင်း ရှိလိမ့်မည် မဟုတ်ပေ။ အချင်းချင်း တစ်ဦးကိုတစ်ဦး မေးမြန်းကြမည်လည်း မဟုတ်ချေ။ [၁]

فَمَن ثَقُلَتْ مَوَازِينُهُ فَأُولَٰئِكَ هُمُ الْمُفْلِحُونَ ﴿١٠٢﴾

၁၀၂။ ထို့ကြောင့် (ထိုနေ့တွင် ကောင်းမှုဘက်၌) အလေးချိန်သာသော သူတို့သည်သာလျှင် အောင်မြင်မှု ရရှိသူများ ဖြစ်ကြကုန်၏။

وَمَنْ خَفَّتْ مَوَازِينُهُ فَأُولَٰئِكَ الَّذِينَ خَسِرُوا أَنفُسَهُمْ فِي جَهَنَّمَ خَالِدُونَ ﴿١٠٣﴾

၁၀၃။ သို့ရာတွင် (ကောင်းမှုဘက်တွင်) အလေးချိန် ပေါ့လျော့နေသူတို့မူကား မိမိတို့ကိုယ်ကို မိမိတို့ပင် ဆုံးရှုံးစေခဲ့သူများ ဖြစ်ကြပေရာ (၎င်းတို့သည်) ဂျဟန္နမ် ငရဲဘုံ၌ ထာဝစဉ်နေထိုင်ကြရပေမည်။

تَلْفَحُ وُجُوهَهُمُ النَّارُ وَهُمْ فِيهَا كَالِحُونَ ﴿١٠٤﴾

၁၀၄။ (ငရဲ)မီးသည် ၎င်းတို့၏ မျက်နှာများကို လောင်ကျွမ်းလျက်ရှိပေမည်။ ထို့ပြင် ၎င်းတို့သည် ယင်းငရဲဘုံ၌ ရုပ်ဆင်းသဏ္ဌာန်ပျက်ယွင်းလျက် ရှိကြမည် ဖြစ်သတည်း။

---

➤➤ "ဗရ်ဇခ်"သည် သေပြီးနောက် ကိယာမတ်အထိ ကြားကာလကို ဆိုသည်။ ဗရ်ဇခ်နောက်တွင် ကိယာမတ် ဖြစ်မည်။ ရှေ့အာယတ်တော်များတွင် ကိယာမတ်အကြောင်းကို မိန့်ဆိုထားတော်မူသည်။

(၁) **ကိယာမတ်နေ့တွင် ကြောက်ဖွယ်ဖြစ်အင်။**

"ဗရ်ဇခ်" နောက်တွင် ကိယာမတ်ဖြစ်မည်။ ဒုတိယအကြိမ် တံပိုးမှုတ်လိုက်သည့်အခါ သတ္တဝါအားလုံးတို့သည် သေရာမှ ပြန်လည်ရှင်ထပြီး ကွင်းပြင်ကြီးတစ်ခုတွင် လာရောက်စုရုံးကြရပေမည်။ ထိုအချိန်တွင် လူတိုင်းလူတိုင်းသည်၊ အကြောက်ကြီးကြောက်ကာ မိမိ၏အရေးတွင် တွေဝေငေးမောလျက် ရှိပေမည်။ အလုံးဆို့လျက်ရှိပေမည်။ မိဘနှင့်သားသမီး၊ ညီရင်းအစ်ကို၊ မောင်ရင်းနှမ၊ လင်နှင့်မယား၊ ဆွေမျိုးသားချင်းများသည် ပင်လျှင် အချင်းချင်း တစ်ဦးကိုတစ်ဦး ပြန်ကြည့်နိုင်ကြမည် မဟုတ်ပေ။ ကြည့်-ကုရ်အာန် (၈၀း၃၃-၃၇)။

ထို့နောက်ပိုင်းတွင်မူ အချို့ မုအ်မင်န်သူတော်စင်များ၌ သားချင်းတော်စပ်မှုသည် အကျိုးဖြစ်ထွန်းကောင်း ဖြစ်ထွန်းပေမည်။ ကြည့်-ကုရ်အာန် (၅၂း၂၁)။

တမန်တော်မြတ်၏ ဟဒီးဒတော်များတွင် လာရှိသည်မှာ ကိယာမတ်နေ့တွင် သားချင်းတော်စပ်မှု၊ မျိုးရိုးတော်စပ်မှု သွေးတော်စပ်မှုများသည် ပြတ်စဲသွားပေမည်။ သို့ရာတွင် တမန်တော်မြတ်၏ သားချင်းတော်စပ်မှု၊ မျိုးရိုးတော်စပ်မှု၊ သွေးတော်စပ်မှုများသည် ပြတ်စဲသွားမည်မဟုတ်ပေ။

اَلَمۡ تَكُنۡ اٰيٰتِىۡ تُتۡلٰى عَلَيۡكُمۡ فَكُنۡتُمۡ بِهَا تُكَذِّبُوۡنَ ﴿١٠٥﴾

၁၀၅။ (ထိုအခါ အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့အားဤသို့မိန့်ကြားတော်မူပေမည်။) "ငါအရှင်မြတ်၏ အာယတ်တော်များသည် အသင်တို့ ရှေ့မှောက်တွင် ဖတ်ကြားခြင်း ခံခဲ့ရသောအခါ၊ အသင်တို့သည် ယင်းအာယတ်တော်များကို မဟုတ်မမှန်ဟူ၍ ငြင်းပယ်လေ့ရှိခဲ့ကြသည် မဟုတ်လော။"

قَالُوۡا رَبَّنَا غَلَبَتۡ عَلَيۡنَا شِقۡوَتُنَا وَكُنَّا قَوۡمًا ضَآلِّيۡنَ ﴿١٠٦﴾

၁၀၆။ ထိုအခါ ၎င်းတို့သည် (ဤသို့) လျှောက်ထားကြပေမည်၊ အို-ကျွန်တော်မျိုးတို့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်၊ (စင်စစ်) ကျွန်တော်မျိုးတို့၏ ကုသိုလ်ကံဆိုးမှုသည် ကျွန်တော်မျိုးတို့အပေါ်၌ လွှမ်းမိုးဖိစီးခဲ့ပါသည်။ ထို့ပြင် ကျွန်တော်မျိုးတို့သည် လမ်းမှားသူများလည်း ဖြစ်ခဲ့ကြပါသည်။

رَبَّنَاۤ اَخۡرِجۡنَا مِنۡهَا فَاِنۡ عُدۡنَا فَاِنَّا ظٰلِمُوۡنَ ﴿١٠٧﴾

၁၀၇။ အို-ကျွန်တော်မျိုးတို့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်၊အရှင်မြတ်သည် ကျွန်တော်မျိုးတို့အား ဤဂျဟန္နမ် ငရဲဘုံမှ ထုတ်ယူတော်မူပါ၊ တစ်ဖန် အကယ်၍ ကျွန်တော်မျိုးတို့သည် (ဤသို့သော အပြုအမူမျိုးကို) ထပ်မံ၍ပြုလုပ်ခဲ့ကြပါလျှင်၊ ထိုအခါ ကျွန်တော်မျိုးတို့သည် ပြစ်မှုကျူးလွန်သူများ အမှန်ပင် ဖြစ်ကြပါမည်။ [၁]

---

၁ **ကာဖိရ်များ မိမိတို့၏အမှား ဝန်ခံခြင်း။**

ကိယာမတ်နေ့တွင် ကာဖိရ်များအား အလ္လာဟ်အရှင်မြတ်က အသင်တို့ရှေ့တွင် ငါအရှင်မြတ်၏ ဒေသနာတော်များကို ရွတ်ဖတ်ဟောကြားခဲ့ရာ အသင်တို့သည် ငြင်းပယ်ခဲ့ကြသည် မဟုတ်ပါသလောဟု မေးမြန်းတော်မူမည်။ ထိုအခါ ကာဖိရ်များသည် မိမိတို့၏အမှားကို ဝန်ခံကြပေမည်။ မိမိတို့အား လူ့လောကသို့ ပြန်လွှတ်တော် မူပါမည့်အကြောင်း၊ ထို့နောက်တစ်ဖန် မိုက်မှားပါက မိမိတို့သည် အမှန်ပင်ကျူးလွန်သူများ ဖြစ်ကြမည့်အကြောင်း လျှောက်ထားကြပေမည်။ ပြစ်ဒဏ်တပ်ရိုက်သည့် အခါကျမှ ဝန်ချတောင်းပန်ခြင်းကား၊ အသို့လျှင် အကျိုးရှိနိုင်အံ့နည်း။

قَالَ اخْسَـُٔوا فِيهَا وَلَا تُكَلِّمُونِ ١٠٨

**၁၀၈။** (ထိုအခါ) ထိုအရှင်မြတ်သည် (ဤသို့) မိန့်ကြားတော်မူမည်။ အသင်တို့သည် ယင်းဂျဟန္နမ်ငရဲဘုံ၌ ဂုဏ်ရည်သေးသိမ်စွာ မောင်းထုတ်ခြင်းခံရသူများအဖြစ် ရှိနေကြလေကုန်။ ၎င်းပြင် အသင်တို့သည် ငါအရှင်မြတ်နှင့် အလျှင်းစကားမပြောဆိုကြကုန်လင့်။

إِنَّهُ كَانَ فَرِيقٌ مِّنْ عِبَادِي يَقُولُونَ رَبَّنَا آمَنَّا فَاغْفِرْ لَنَا وَارْحَمْنَا وَأَنتَ خَيْرُ الرَّاحِمِينَ ١٠٩

**၁၀၉။** ကေန်စင်စစ် ငါအရှင်မြတ်၏ ကျွန်တို့အနက် လူတစ်စုသည် ရှိခဲ့ကြကုန်၏။ ၎င်းတို့သည် (ငါအရှင်မြတ်အထံတော်တွင် ဤသို့) လျှောက်ထားပန်ကြားလျက် ရှိခဲ့ကြကုန်၏။ အို-ကျွန်တော်မျိုးတို့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်၊ ကျွန်တော်မျိုးတို့သည် သက်ဝင်ယုံကြည်ကြပါသည်၊ ထို့အတွက် အရှင်မြတ်သည် ကျွန်တော်မျိုးတို့အား လွတ်ငြိမ်းချမ်းသာခွင့် ပေးတော်မူပါ။ ထို့ပြင် အရှင်မြတ်သည် ကျွန်တော်မျိုးတို့အား သနားတော်မူပါ။ စင်စစ်သော်ကား အရှင်မြတ်သည် သနားကြင်နာသူအပေါင်းတို့ထက် သာလွန် သနားကြင်နာတော်မူသောအရှင်မြတ်ပင် ဖြစ်တော်မူပါသည်။

فَاتَّخَذْتُمُوهُمْ سِخْرِيًّا حَتَّىٰ أَنسَوْكُمْ ذِكْرِي وَكُنتُم مِّنْهُمْ تَضْحَكُونَ ١١٠

**၁၁၀။** ထိုအခါ အသင်တို့သည် ၎င်းတို့အား ပြက်ချော် ပြောင်လှောင်ဖွယ်ရာများ ပြုလုပ်ခဲ့ကြကုန်၏။ နောက်ဆုံးတွင် ၎င်းတို့အား အသင်တို့၏ ပြက်ချော်မှုသည် အသင်တို့ကို ငါအရှင်မြတ်အား သတိရခြင်းမှ မေ့ပျောက်စေခဲ့ကုန်သည်။ ၎င်းပြင် အသင်တို့သည် ထိုသူတို့အပေါ်၌ရယ်မောလျက်ပင်ရှိခဲ့ကြကုန်၏။[၁]

(၁) အလ္လာဟ်အရှင်မြတ်က ဆက်လက်၍ ကာဖိရ်များအား လူ့လောကတွင် ငါအရှင်မြတ်၏ကျွန် သူတော်စင်များ ရှိခဲ့ကြသည်။ ငါ့ထံ ဆုပန်ခဲ့ကြသည်။ အသင်တို့သည် ယင်းသူတော်စင်များအား ပြောင်လှောင်ခဲ့ကြသည်။ ပြောင်လှောင်မှု၌ပင် လုံးဝနစ်မွန်း၍ နေခဲ့ကြပေသည်။ ငါ့ကိုပင် အမှတ်မရနိုင်ခဲ့ကြပေ။ ထိုသူတော်စင်များသည် အသင်တို့ ကဲ့ရဲ့ပြစ်တင် ပြောဆိုခဲ့ကြသည်များနှင့် ကျူးကျော်စော်ကားခဲ့ကြသည်များကိုလည်း ခံခဲ့ကြပေသည်။ အမှန်မှာ အသင်တို့သည် ငါ၏ကျွန် သူတော်စင်များကိုလည်း စော်ကားခဲ့ကြသည်။ ငါ၏ဒေသနာတော်များ ⊳⊳

إِنِّي جَزَيْتُهُمُ الْيَوْمَ بِمَا صَبَرُوا أَنَّهُمْ هُمُ الْفَائِزُونَ ﴿١١١﴾

**၁၁၁။** ယနေ့ ငါအရှင်မြတ်သည် ထိုသူတို့အား ၎င်းတို့၏သည်းခံမှုကြောင့် ကောင်းကျိုးကို ချီးမြှင့်တော်မူလိုက်ပြီ၊ မုချဧကန် ၎င်းတို့သည်သာ အောင်မြင်သူများ ဖြစ်ကြကုန်သတည်း။

قَالَ كَمْ لَبِثْتُمْ فِي الْأَرْضِ عَدَدَ سِنِينَ ﴿١١٢﴾

**၁၁၂။** ထိုအရှင်မြတ်သည် (၎င်းတို့အား) အသင်တို့သည် ကမ္ဘာမြေဝယ် နှစ်ပရိစ္ဆေဒ အရေအတွက်အားဖြင့် မည်မျှကြာအောင် နေခဲ့ကြသနည်းဟု မိန့်ကြားတော်မူမည်။

قَالُوا لَبِثْنَا يَوْمًا أَوْ بَعْضَ يَوْمٍ فَاسْأَلِ الْعَادِّينَ ﴿١١٣﴾

**၁၁၃။** (ထိုအခါ) ၎င်းတို့က ကျွန်တော်မျိုးတို့သည် *တစ်နေ့တိတိသော်လည်းကောင်း၊ တစ်နေ့လျော့လျော့သော်လည်းကောင်း၊ နေခဲ့ကြပါသည်။* [၁] သို့ပါ၍ အရှင်မြတ်သည် ရေတွက်သူ(များဖြစ်ကြသော "မလာအိကဟ်" ကောင်းကင်တမန်)တို့အား မေးမြန်း၍ ကြည့်တော်မူပါဟု လျှောက်ထားကြပေမည်။

➤➤ ကိုလည်း စော်ကားခဲ့ကြသည်။ သို့အတွက် အသင်တို့သည် အမှားကြီးမှား၍ အရှုံးကြီးရှုံးကြပြီ၊ ထာဝရ ငရဲသို့ လားကြရပြီ၊ ငါ၏ကျွန် သူတော်စင်များမှာမူ ငါ၏ဒေသနာတော်များကို ဦးလည်မသုံ လိုက်နာကျင့်သုံးခဲ့ကြသည်။ သို့ လိုက်နာကျင့်သုံးရာတွင် တွေ့ကြုံခဲ့ရသော ဒုက္ခကြီးငယ်များကိုလည်း သည်းခံခဲ့ကြသည်။ ထို့အတွက် ၎င်းတို့ အောင်မြင်ခြင်းကြီးမက အောင်မြင်ကြပြီ၊ ထာဝရအမတသုခဘုံသို့ လားကြရပြီဟု မိန့်ကြားတော်မူပေမည်။

(၁) ကိယာမတ်နေ့တွင် အလ္လာဟ်အရှင်မြတ်က ကာဖိရ်များအား၊ အသင်တို့သည် လူ့လောက၌၊ အဘယ်မျှ နေထိုင်ခဲ့ကြသနည်းဟု မေးတော်မူမည်၊ ကာဖိရ်များက ကျွန်တော်မျိုးတို့သည် တစ်နေ့သို့မဟုတ် တစ်နေ့၏ အချို့အဝက်မျှသာ နေထိုင်ခဲ့ကြပါသည်ဟု လျှောက်ထားကြပေမည်။

နောင်တမလွန်နှင့်စာလျှင် ဤပစ္စက္ခလူ့လောကသည် ခေတ္တခဏ၊ သခါရမျှသာဖြစ်ပေသည်။ သို့တစေလည်း ကာဖိရ်များသည် လူ့လောကကို လူ့ပန်းတိုင်ဟု ယူဆကာ သံယောဇဉ်ကြီးစွာဖြင့် လောကီရေးရာများတွင် နစ်မွန်း၍ နေခဲ့ကြလေသည်။ နောင်တမလွန်အရေးကို စိတ်ကူးထဲ၌ မေ့မှား၍မျှပင် မထည့်ခဲ့ကြပေ။ ကာဖိရ်များသည် မုအ်မင်န် သူတော်စင်များနည်းတူ တမန်တော်များ၏ဩဝါဒများကို နာခံခဲ့ကြပါက၊ မမောက်မာခဲ့ကြပါက၊ မမိုက်မှားခဲ့ကြပါက၊ မကျူးကျော် မစော်ကားခဲ့ကြပါက၊ လူ့လောက၏ သဘောသဘာဝကို ယခင်ကပင် သိမြင်၍ နောင်တမလွန်အရေးများကို ကြိုးစားဆောက်တည်ခဲ့ကြပါက၊ ယခုကဲ့သို့ အလ္လာဟ်အရှင်မြတ်၏ ပြစ်ဒဏ်သင့်ကာ ငရဲသို့လားကြရမည် မဟုတ်ပေ။ ကာဖိရ်များသည် လူ့လောကတွင် အသက်ရှင်နေစဉ် ပြစ်ဒဏ်ကိုပင် အလျင်စလို တောင်းဆိုခဲ့ကြသည် ယခုမူတွေ့ကြရပြီ။

قٰلَ إِن لَّبِثْتُمْ إِلَّا قَلِيلًا لَّوْ أَنَّكُمْ كُنتُمْ تَعْلَمُونَ ﴿١١٤﴾

**၁၁၄။** ထိုအခါ ထိုအရှင်မြတ်က (ဤသို့) မိန့်ကြားတော်မူမည်။ အသင်တို့သည် (ကမ္ဘာမြေဝယ်) အနည်းငယ်မျှသာ ကြာမြင့်ခဲ့ကြပေသည်။ အကယ်၍သာ (ဤသည်ကို) အသင်တို့သည် (ယခင်ကပင်) သိရှိခဲ့ကြလျှင် ကောင်းလေစွတကား။

أَفَحَسِبْتُمْ أَنَّمَا خَلَقْنَاكُمْ عَبَثًا وَأَنَّكُمْ إِلَيْنَا لَا تُرْجَعُونَ ﴿١١٥﴾

**၁၁၅။** အသင်တို့သည် မိမိတို့အား ငါအရှင်မြတ်က အချည်းနှီး အကျိုးမဲ့သာဖန်ဆင်းတော်မူခဲ့သည်ဟူ၍လည်းကောင်း၊အသင်တို့သည် ငါအရှင်မြတ်အထံတော်သို့ ပြန်လည်ရောက်ရှိကြရမည် မဟုတ်ဟူ၍လည်းကောင်း၊ *ထင်မှတ်ခဲ့ကြလေသလော။* [၁]

---

(၁) **<u>လူသားတို့အား အချည်းနှီး ဖန်ဆင်းထားတော်မူသည် မဟုတ်။</u>**

အလ္လာဟ်အရှင်မြတ်သည် လူသားတို့အား အချည်းနှီး ဖန်ဆင်းထားတော် မူသည်မဟုတ်။ ကာဖိရ်များသည် မိမိတို့အား ဖန်ဆင်းထားတော်မူသည့် ရည်ရွယ်ချက်ကိုပင် မသိနားမလည်ကြပေ။ လူသည် အသက်ထွက်သွားသည့်အခါ လုံးဝဆိတ်သုဉ်း ပျောက်ပျက်သွားသည် ဟူ၍ပင်ထင်မှတ်ကြသည်။ ဤပစ္စက္ခဘဝ၏ နောက်တွင် နောင်တမလွန်ဘဝမရှိ၊ ဤပစ္စက္ခသည် အမိ၊ ဤပစ္စက္ခသည် အဘ၊ ဤပစ္စက္ခသည် အဓိကပင် ဖြစ်သည်ဟု ယူဆကြသည်။ ဤကား မဟာအမှားပင်။

အမှန်မှာ အသက်ထွက်သွားရုံမျှဖြင့် လူသား၏ဘဝသည် ဆုံးခန်းတိုင် ရောက်သွားသည်မဟုတ်ပေ။ ဤပစ္စက္ခသည် အစဖြစ်သည်၊ နောင်တမလွန်ဘဝသည် အဆုံးဖြစ်သည်။ လူသားတို့သည် နောင်တမလွန်ဘဝတွင် အလ္လာဟ် အရှင်မြတ်၏ထံတော်သို့ ပြန်လည် ရောက်ကြရဦးမည်။ စာရင်းရှင်းကြရဦးမည်။ ဆိုးကောင်း၊ ခံစံကြရဦးမည်။

အကယ်၍ ဤပစ္စက္ခဘဝ၏နောက်တွင် နောင်တမလွန်ဘဝမရှိပါက ကျိုးပြစ် မခံစံကြရပါက ဤမျှကြီးမားသော အံ့မဆုံးသော စကြာဝဠာကြီးကို ဖန်ဆင်းထားတော်မူခြင်းမှာ (မပြောအပ်၊ မဆိုအပ်) အချည်းနှီးဖြစ်သွားပေမည်။ မိမိအား တော်လှန်ပုန်ကန်သော သူယုတ်တို့အား ဘေးမဲ့လွှတ်ထားရာ ရောက်မည်။ မိမိအား သစ္စာရှိသော သူတော်စင်များအား လျစ်လျူပြုထားရာ ရောက်မည်။ ဤသို့ကား၊ အလျှင်းမဖြစ်နိုင်၊ ဉာဏ်တော်အနန္တ၊ တန်ခိုးတော်အနန္တနှင့် ပြည့်စုံတော်မူသော အရှင်မြတ်သည် ဤသို့သော အချည်းနှီးသော၊ အဓိပ္ပါယ်ကင်းမဲ့သော အရာများထက် အတိုင်းမသိ မြင့်မြတ်တော်မူပေသည်။ ထိုအရှင်မြတ်နှင့်ပတ်သက်၍ ဤသို့သော အတွေးအခေါ်မျိုးကို မေ့မှား၍မျှ မတွေးရာ။

فَتَعٰلَى اللّٰهُ الْمَلِكُ الْحَقُّ لَآ اِلٰهَ اِلَّا هُوَ رَبُّ الْعَرْشِ الْكَرِيْمِ ﴿١١٦﴾

၁၁၆။ စင်စစ် အလ္လာဟ်အရှင်မြတ်သည် (ယင်းကဲ့သို့ အချည်းနှီး ပြုလုပ်တော်မူခြင်းမှ) လုံး၀ ကင်းစင် မြင့်မြတ်လှတော်မူသော၊ ဘုရင်မင်းမြတ် အစစ်အမှန် ဖြစ်တော်မူ၏။ ထိုအရှင်မြတ်မှတပါး ခ၀ပ်ကိုးကွယ်ရာ အရှင်ဟူ၍ အလျှင်း မရှိပြီ။ (ထိုအရှင်မြတ်သည်) မြင့်မြတ်လှစွာသော "အရ်ရှ်"ပလ္လင်တော်ကို စိုးပိုင်တော်မူသောအရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

وَمَنْ يَّدْعُ مَعَ اللّٰهِ اِلٰهًا اٰخَرَ لَا بُرْهَانَ لَهٗ بِهٖ فَاِنَّمَا حِسَابُهٗ عِنْدَ رَبِّهٖ اِنَّهٗ لَا يُفْلِحُ الْكٰفِرُوْنَ ﴿١١٧﴾

၁၁၇။ စင်စစ်သော်ကား မည်သူမဆို အလ္လာဟ်အရှင်မြတ်နှင့် တွဲဖက်နိုင်းယှဉ်၍ အကြောင်းမဲ့၊ အထောက်အထားမဲ့၊အခြားကိုးကွယ်ရာတစ်စုံတစ်ရာကို ဟစ်ခေါ်ဆည်းကပ်ကိုးကွယ်သည်ရှိသော်၊ ထိုသူအား စစ်ဆေးရန်မှာ၎င်းအားဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်အထံတော်၌သာလျှင် ရှိပေသည်။ မလွဲဧကန် ကာဖိရ်သွေးဖည် ငြင်းပယ်သော သူတို့ကား အောင်မြင်မှု ရရှိကြမည် မဟုတ်ပေ။ [၁]

(၁) **ကာဖိရ်များကား အောင်မြင်ကြမည် မဟုတ်ပေ။**

အလ္လာဟ်အရှင်မြတ်သည် ဉာဏ်တော်အနန္တ၊ တန်ခိုးတော်အနန္တနှင့် ပြည့်စုံတော်မူသည်။ ထိုအရှင်မြတ်သည် အရာခပ်သိမ်းကုန်တို့ကို အမှန်တကယ်၊ စိုးပိုင်တော်မူသော အရှင်ဖြစ်တော်မူသည်။ ထိုအရှင်မြတ်မှတစ်ပါး အခြားကိုးကွယ်ရာဟူ၍ အလျှင်းမရှိပြီ။ ကြီးကဲမြင့်မြတ်လှသော "အရ်ရှ်" ပလ္လင်တော်ကိုလည်း ထိုအရှင်မြတ်သည်ပင် စိုးပိုင်တော်မူသည်။ သို့ပါလျက် ကာဖိရ်များသည် ထိုအရှင်မြတ်နှင့် ယှဉ်တွဲ၍ အထောက်အထားမဲ့၊ အကြောင်းမဲ့ အခြားအရာများကိုလည်း ဆည်းကပ်ကိုးကွယ်ကြပါက ယင်းကာဖိရ်များသည် အလ္လာဟ်အရှင်မြတ်ထံတော်၌ စာရင်းရှင်းကြရမည်။ သို့ စာရင်းရှင်းကြရလျှင် ၎င်းတို့သည် အသို့လျှင် အောင်မြင်ကြအံ့နည်း။ ငရဲသို့ ထာ၀စဉ် လားကြရမည်သာတည်း။

ဤကဏ္ဍ၏ အစတွင် မုအ်မင်န်များ အောင်မြင်ကြသည့်အကြောင်း၊ မိန့်ဆိုထားတော်မူသည်။ ဤကဏ္ဍ၏အဆုံးတွင် ကာဖိရ်များ မအောင်မြင်ကြသည့် အကြောင်း၊ မိန့်ဆိုထားတော်မူသည်။ ဤကား မုအ်မင်န်နှင့် ကာဖိရ်အား ယှဉ်တွဲ မိန့်ဆိုထားတော်မူခြင်းတည်း။

وَقُلْ رَّبِّ اغْفِرْ وَارْحَمْ وَأَنتَ خَيْرُ الرَّاحِمِينَ ﴿١١٨﴾

**၁၁၈**။ ၎င်းပြင် (အို-နဗီတမန်တော်) အသင်သည် (ဤသို့) လျှောက်ထားပန်ကြားပါလေ။ အို-ကျွန်တော်မျိုးတို့၏ အရှင်မြတ်၊ အရှင်မြတ်သည် (ကျွန်တော်မျိုးအား) ခွင့်လွှတ်တော်မူပါ၊ ထို့ပြင် အရှင်မြတ်သည် (ကျွန်တော်မျိုးအပေါ်၌) သနားကြင်နာတော်မူပါ။ စင်စစ်သော်ကား အရှင်မြတ်သည် သနားကြင်နာသူ အပေါင်းတို့ထက်သာလွန် သနားကြင်နာတော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူပါသတည်း။ [၁]

---

(၁) **တမန်တော်မြတ်အား ဆုပန်ကြားရန် အမိန့်တော်။**

ဤကဏ္ဍအစတွင် မုအ်မင်န်များ အောင်မြင်ကြသည့်အကြောင်း ဤကဏ္ဍ၏ အဆုံးတွင် ကာဖိရ်များ အောင်မြင်ကြမည် မဟုတ်သည့်အကြောင်း၊ မိန့်ဆိုထားတော်မူသည်။ ထို့နောက် တမန်တော်မြတ်အား အလ္လာဟ်အရှင်မြတ် အထံတော်၌ ဆုပန်ကြားရန်၊ မိန့်ဆိုထားတော်မူသည်။ တမန်တော်ကဲ့သို့ "မအ်ဆူမ်" အပြစ်ကင်းတော်မူသော တမန်တော်အားပင် ယင်းသို့ ဆုပန်ကြားရန် အမိန့်တော်လာရှိပေရာ အခြားသူများအဖို့ ဆုပန်ကြားခြင်းသည် အဘယ်မျှ အရေးကြီးသည်ကို ထုတ်ဖော်ရေးသားရန်ပင် မလိုတော့ပေ။

"မဃ်ဖိရတ်"နှင့် "ရဟ်မတ်"၏ ခြားနားချက်မှာ- မဃ်ဖိရတ်သည် အပြစ်များကို ဖုံးအုပ်ပေးသည် လွတ်ငြိမ်းချမ်းသာခွင့် ရစေသည်။ အပြစ်များကို လူသားတို့၏ အမြင်မှ မေ့ပျောက်စေသည်။ "ရဟ်မတ်"သည် အပြောအဆို အမူအကျင့်ကိစ္စ ဟူဟူသမျှတွင် အကြောင်းလှစေသည်။ အကောင်းကို ပြုစွမ်းနိုင်စေသည်။

# ရောင်ခြည်တော်ကဏ္ဍ

سُوْرَةُ النُّوْرِ

ဤကဏ္ဍသည် "နူရ်" ရောင်ခြည်တော် အကြောင်းပါဝင်သော ကဏ္ဍဖြစ်သည်။
မဒီနာမြို့တော်၌ ထုတ်ပြန် ပို့ချတော်မူသော ကဏ္ဍဖြစ်သည်။
ဤကဏ္ဍတွင် "အာယတ်တော်" (၆၄)ပါးနှင့် "ရုကူအ်" အပိုဒ် (၉)ပိုဒ် ပါရှိသည်။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ

မပြတ်မစဲ သနားကြင်နာ ညှာတာတော်မူသော
အနန္တဂရုဏာရှင်ဖြစ်တော်မူသော
အလ္လာဟ်အရှင်မြတ်၏နာမံတော်ဖြင့် အစပြုပါ၏။

سُوْرَةٌ اَنْزَلْنٰهَا وَفَرَضْنٰهَا وَاَنْزَلْنَا فِيْهَآ اٰيٰتٍۢ بَيِّنٰتٍ لَّعَلَّكُمْ تَذَكَّرُوْنَ ①

၁။ (ဤသည်)ကဏ္ဍတစ်ခုပင် ငါအရှင်မြတ်သည်ပင် ယင်းကဏ္ဍကို ချပေးထားတော်မူခဲ့သည်။ ၎င်းပြင် ငါအရှင်မြတ်သည်ပင်ယင်းကဏ္ဍကို သတ်မှတ်ပြဋ္ဌာန်းတော်မူခဲ့သည်။ ထိုမှတပါးငါအရှင်မြတ်သည် အသင်တို့ တရားရကြအံ့သောငှာ *ယင်းကဏ္ဍ၌ ထင်ရှားစွာသော အာယတ်တော်များကိုချပေးတော်မူခဲ့သည်။*[1]

---

## ① ဤကဏ္ဍသည် အလွန်အရေးကြီးလှသည်။

ကုရ်အာန်ကျမ်းမြတ် တစ်စောင်လုံးသည် အလ္လာဟ်အရှင်မြတ် ထုတ်ပြန်ချမှတ်ထားတော်မူသော အာယတ်တော်များချည်းသာလျှင် ဖြစ်ချေသည်။ ကုရ်အာန်ကျမ်းလာ အမိန့်ပညတ် အရပ်ရပ်တို့သည်လည်း ထိုအရှင်မြတ် ပြဋ္ဌာန်းသတ်မှတ် ပညတ်ထားတော်မူသော အမိန့်တော်၊ ပညတ်တော်များချည်းသာလျှင် ဖြစ်ချေသည်။

သို့ပါလျက် ဤကဏ္ဍ၏အစတွင် ဤကဏ္ဍနှင့်စပ်လျဉ်း၍ (ဤကား အကြင်သို့သော) ကဏ္ဍတစ်ခုပင်၊ ယင်းကဏ္ဍ(လာ ပုဒ်များကိုလည်း) ငါအရှင်မြတ်သည်ပင် ချပေးတော်မူခဲ့ပေသည်။ ယင်းကဏ္ဍ(လာ အမိန့်ပညတ် အရပ်ရပ်)ကိုလည်း ငါအရှင်မြတ်သည်ပင် ပြဋ္ဌာန်းသတ်မှတ် ပညတ်ပေးတော်မူခဲ့ပေသည်။ ၎င်းနောက် အသင်တို့ တရားရကြအံ့သောငှာ ငါအရှင်မြတ်သည် ယင်းကဏ္ဍတွင် ထင်ရှားသော အာယတ်တော်များကို ထုတ်ပြန်ချမှတ်ထားတော်မူသည်ဟု မိန့်ဆိုထားတော် မူခြင်းမှာ အခြားမဟုတ်၊ ဤကဏ္ဍလာ ပညတ်အရပ်ရပ်ကို အထူးတလည် လေ့လာလိုက်စား မှတ်သားပြီး ဦးလည်မသုန် လိုက်နာကျင့်သုံးကြရန်ပင် ဖြစ်သည်။

ဤကဏ္ဍလာ အမိန့်ပညတ်များ အနက် အများစုမှာ အမျိုးသမီးများနှင့် အထူးဆက်စပ်လျက် ရှိသည်။ ထို့အတွက် တမန်တော်မြတ်ကလည်း "အသင်တို့သည် ဤကဏ္ဍကို မိမိတို့၏အမျိုးသမီးများအား သင်ကြားပေးကြကုန်" ဟု အမိန့်တစ်ရပ် မိန့်မှာသွားတော်မူခဲ့ခြင်းဖြစ်သည်။ ဤသည်ကို ထောက်ရှု၍ ဤကဏ္ဍသည် အဘယ်မျှ အရေးကြီးလှသည်ကို ကောင်းစွာ နားလည်နိုင်ပေသည်။

الزَّانِيَةُ وَالزَّانِي فَاجْلِدُوا كُلَّ وَاحِدٍ مِّنْهُمَا مِائَةَ جَلْدَةٍ ۖ وَلَا تَأْخُذْكُم بِهِمَا رَأْفَةٌ فِي دِينِ اللَّهِ إِن كُنتُمْ تُؤْمِنُونَ بِاللَّهِ وَالْيَوْمِ الْآخِرِ ۖ وَلْيَشْهَدْ عَذَابَهُمَا طَائِفَةٌ مِّنَ الْمُؤْمِنِينَ ②

၂။ ကာမေသုမိစ္ဆာစာရက် ကျူးလွန်သော မိန်းမသည်လည်းကောင်း၊ ကာမေသုမိစ္ဆာစာရက် ကျူးလွန်သော ယောကျ်ားသည်လည်းကောင်း၊ အသင်တို့သည် ၎င်းတို့နှစ်ဦးအနက်တစ်ဦးစီကို *ကြိမ်ဒဏ်အချက်ပေါင်းတစ်ရာစီ ရိုက်ကြလေကုန်။* [၁] ထို့ပြင် အကယ်၍ အသင်တို့သည်အလ္လာဟ်အရှင်မြတ်အားလည်းကောင်း၊ နောက်ဆုံးနေ့ကိုလည်းကောင်း၊ သက်ဝင် ယုံကြည်ကြလျှင် ၎င်းတို့နှစ်ဦးအပေါ်၌ ကရုဏာသက်ရောက်မှုသည် အသင်တို့အား အလ္လာဟ်အရှင်မြတ်၏ အမိန့်ပညတ်ကို လိုက်နာဆောင်ရွက်ရာတွင် *ချုပ်တည်းခြင်းအလျှင်းမရှိစေရ။* [၂]

ထို့ပြင် ၎င်းတို့နှစ်ဦးအား ပြစ်ဒဏ်ပေးသည်ကို "မုအ်မင်န်" သက်ဝင် ယုံကြည်သူ တစ်စုသည် *လာရောက် ကြည့်ရှုကြရမည် ဖြစ်သတည်း။* [၃]

---

(၁) **ကာမေသု မိစ္ဆာစာရက် ကျူးလွန်မှု၏ ပြစ်ဒဏ်။**

ကာမေသုမိစ္ဆာစာရက် ကျူးလွန်သော အကြင်မိန်းမ၊ အကြင်ယောကျ်ားသည် -

(၁) လွတ်လပ်သူ (ကျေးကျွန်မဟုတ်သူ) ဖြစ်သော်၊

(၂) အသိဉာဏ်ရှိသူ (ရူးသွပ်သူမဟုတ်သူ) ဖြစ်သော်၊

(၃) အရွယ်ရောက်သူ ဖြစ်သော်

(၄) အပျိုလူပျို ဖြစ်သော် (ဝါ) မထိမ်းမြားရသေးသော်၊ ထိမ်းမြားပြီးပါကလည်း ကာယသံသဂ္ဂအမှုမပြုရသေးသော် ထိုသို့သောမိန်းမ ထိုသို့သော ယောကျ်ားအား ကြိမ်ဒဏ်(၁၀၀) တပ်ရိုက်ရမည်ဖြစ်သည်။

အကယ်၍ ကာမေသုမိစ္ဆာစာရက် ကျူးလွန်သော အကြင်မိန်းမ၊ အကြင်ယောကျ်ားသည် လွတ်လပ်သူမဟုတ်သော် (ဝါ) ကျေးကျွန်ဖြစ်နေသော်၊ ယင်းသို့သော ကျွန်မိန်းမ၊ ကျွန်ယောကျ်ားကိုမူ ကြိမ်ဒဏ်(၅၀) တပ်ရိုက်ရမည်ဖြစ်သည်။ ဤအကြောင်း ကုရ်အာန် (၄း၂၅)တွင် ပါရှိသည်။

အကယ်၍ ကာမေသုမိစ္ဆာစာရက် ကျူးလွန်သူသည် အသိဉာဏ်မရှိသူ ဖြစ်နေသူသော် သို့မဟုတ် အရွယ်မရောက်သေးသော သူဖြစ်နေသော်၊ ထိုသို့သော သူ၌ သာသနာ့ အမိန့်ပညတ်များကို လိုက်နာကျင့်သုံးရန်ပင် တာဝန်မရှိသေးသည့်အတွက် တာဝန်ပျက်ကွက် ချိုးဖောက်မှု၏ ပြစ်ဒဏ်လည်းမရှိပေ။

အကယ်၍ အကြင် မွတ်စ်လင်မ်တစ်ဦး၌ လွတ်လပ်မှု၊ အရွယ်ရောက်မှု၊ အသိဉာဏ်ရှိမှု၊ ထိမ်းမြားမှု၊ ကာယသံသဂ္ဂပြုမှု စသည့် အချက်အလက်များ ပြည့်စုံနေသော်၊ ထိုသို့သောသူအား "မုဟ်ဆွင်န်" အမျိုးသမီး ▷▷

➤➤ ဖြစ်ပါက "မုဟ်ဆိနဟ်" ဟုခေါ်သည်။ ထိုသို့သော မုဟ်ဆွင်နဲ သို့မဟုတ် မုဟ်ဆိနဟ်တစ်ဦးသည် ကာမေသုမိစ္ဆာစာရကံ ကျူးလွန်ပါက ၎င်း၏ပြစ်ဒဏ်မှာ "ရဂျ်မ်" ခဲပေါက်သတ် ပြစ်ဒဏ်ပင်ဖြစ်သည်။ ဤအကြောင်း တမန်တော်မြတ်၏ ဩဝါဒတော် များတွင် အတိအလင်း လာရှိပေသည်။

ကြိမ်ဒဏ်အရိုက်ခံရမည့် သူတစ်ဦးသည် ကျန်းမာရေးချို့တဲ့မှုကြောင့်၊ ကြိမ်၏ဒဏ် မခံနိုင်သေးသည် ရှိသော် ကျန်းမာရေး ကောင်းလာသည် အထိ၊ ကြိမ်ဒဏ်ရိုက်မှုကို ရွှေ့ဆိုင်းထားရမည် ဖြစ်သည်။

ထာနဝီ။ အ-၈၊ စ-၂-၃။

**မှတ်ချက်။**

ကာမေသုမိစ္ဆာစာရကံ ကျူးလွန်မှုနှင့်စပ်လျဉ်း၍ အစ္စလာမ်တရားတော်နှင့်အညီ ခဲပေါက်သတ်ပြစ်ဒဏ် ခတ်နိုင်ရန်အတွက်၊

(က) ကိုယ်တွေ့ မျက်မြင်သက်သေ (၄)ဦး ရှိရမည်။ ထိုသက်သေ (၄) ဦးတို့သည် -

(၁) မွတ်စ်လင်မ်များ ဖြစ်ကြရမည်။

(၂) အသိဉာဏ်ကောင်းမွန်သူများ ဖြစ်ကြရမည်။

(၃) တရားသူများ ဖြစ်ကြရမည်။

(၄) ယင်းသို့သော သက်သေ(၄)ဦးက ကိုယ်တွေ့မျက်မြင် တိကျမှန်ကန်စွာ သက်သေထွက်ဆို ကြရပေမည်။

(ခ) သို့တည်းမဟုတ်၊ ကာယကံရှင်က ပြစ်မှုကျူးလွန်ကြောင်း၊ မိမိကိုယ်တိုင် အကြိမ်ကြိမ် ဝန်ခံထုတ်ဖော် ပြောဆိုရမည်။

ဤကိစ္စနှင့် စပ်လျဉ်း၍ အနည်းငယ်မျှပင် ဒွိဟသံသယမှု ဖြစ်ပေါ်လာပါက အပြစ်ဒဏ်သည် ပလပ်သွားပေမည်။ ဤအကြောင်းနှင့် စပ်လျဉ်း၍ အသေးစိတ်သိလိုပါက ဟိဒါယဟ်ကျမ်းတွင် ရှုပါကုန်။

## ၂ သာသနာရေးတွင် ပြတ်သားရမည်။

ကာမေသုမိစ္ဆာစာရမှု ကျူးလွန်သူများအား အစ္စလာမ်တရားတော်နှင့်အညီ ပြစ်ဒဏ်ခတ်ရာတွင် မတရား သနား၊ ကြင်နာ၊ ထောက်ထားမှုများကြောင့် ဆုတ်ဆိုင်းမှု၊ လျော့ပါးမှု အလျှင်းမရှိရာ၊ ပြစ်မှုကျူးလွန်သူအား အပြစ်ရှိသည့်အလျောက် ဖြုမည်းမခြား၊ မထောက်ထားဘဲ မှန်ကန်တိကျပြတ်သားစွာ အပြစ်ပေးရမည်သာ ဖြစ်သည်။

ဤပစ္စက္ခတွင် အပြစ်ရှိသည့်အလျောက် ပြစ်ဒဏ် ခံသွားရခြင်းသည် ပြစ်မှုကျူးလွန်မိသူအဖို့ အကောင်းပင်၊ အဘယ်ကြောင့်ဆိုသော် ပြစ်မှုရှိသူတစ်ဦးသည် ဤပစ္စက္ခတွင် မိမိ၏ပြစ်ဒဏ်ကို ခံသွားရပြီးနောက် (အင်န်ရှာအလ္လာဟ်) နောင်တမလွန်ဘဝတွင် ယင်းပြစ်မှု၌ အပြစ်ကင်းစင်သူ တစ်ဦးအဖြစ် ရှင်ပြန်ထရမည်သာ ဖြစ်သည်။ ပြစ်ဒဏ်ခံရမည် မဟုတ်ပေ။

## ၃ ပြစ်ဒဏ်ခတ်ရာသို့ လာကြည့်ရာ၏။

ကာမေသုမိစ္ဆာစာရမှုကို ကျူးလွန်သူများ ပြစ်ဒဏ်ခတ်ရာသို့ မွတ်စ်လင်မ်များ လာကြည့်အပ်ပေသည်။ သို့ လာရောက် ကြည့်ရှုခြင်းအားဖြင့် ပြစ်ဒဏ်ခတ်သည့် သတင်းသည် တစ်ယောက်စကား တစ်ယောက်နား ပေါက်ကြားကာ တိုင်းပြည်အဝှန်းသို့ ပျံ့နှံ့သွားပေမည်။ ကြားရသူ ပြည်သူအပေါင်းတို့သည် ဆင်ခြင်ကြပေမည်။ ထိတ်လန့်ကြပေမည်။ ကာမေသုမိစ္ဆာစာရမှုကို ဝေးစွာ ရှောင်ကြဉ်ကြပေမည်။ ထာနဝီ။

ٱلزَّانِي لَا يَنكِحُ إِلَّا زَانِيَةً أَوْ مُشْرِكَةً وَٱلزَّانِيَةُ لَا يَنكِحُهَآ إِلَّا زَانٍ أَوْ مُشْرِكٌ ۚ وَحُرِّمَ ذَٰلِكَ عَلَى ٱلْمُؤْمِنِينَ ③

၃။ ကာမေသုမိစ္ဆာစာရ ကျူးလွန်သော ယောကျာ်းသည်ကား ကာမေသုမိစ္ဆာစာရ ကျူးလွန်သော သို့မဟုတ် တစ်စုံတစ်ရာကို အလ္လာဟ်အရှင်မြတ်နှင့် တွဲဖက်နိုင်းယှဉ်ကိုးကွယ်သော မိန်းမအပြင် အခြား (သူတော်စင် အမျိုးသမီးများ)နှင့် ထိမ်းမြားသည် မဟုတ်ပေ။ ထိုနည်းတူစွာ ကာမေသုမိစ္ဆာစာရ ကျူးလွန်သောမိန်းမနှင့်လည်း ကာမေသုမိစ္ဆာစာရ ကျူးလွန်သောယောကျာ်း သို့မဟုတ်တစ်စုံတစ်ရာကို အလ္လာဟ်အရှင်မြတ်နှင့် တွဲဖက်နိုင်းယှဉ်ကိုးကွယ်သောယောကျာ်းနှင့်သာလျှင် ထိမ်းမြားလေသည်။

စင်စစ် ဤ(ကာမေသုမိစ္ဆာစာရကျူးလွန်သောမိန်းမများနှင့် ထိမ်းမြားမှု)သည် 'မုအ်မင်န်' သက်ဝင်ယုံကြည်သောသူတို့အပေါ်၌ *ဟရာမ်ဟူ၍ တားမြစ်ထားပြီး ဖြစ်ချေသတည်း။* ၁

---

၁ **အသွင်မတူ အိမ်သူမဖြစ်။**

ဤအာယတ်တော်တွင်ပါရှိသော "မုရှ်ရိကဟ်"-"မုရှ်ရစ်က်" အမျိုးသမီးဟူသည် ရှရစ်က် ယှဉ်တွဲကိုးကွယ်မှု၌ ရှိနေဆဲအမျိုးသမီးကို ဆိုလိုသည်။ တစ်ချိန်က ရှရစ်က်မှု၊ ကျူးလွန်မိပြီး၊ ထို့နောက် ဝန်ချတောင်းပန်၍ မွတ်စ်လင်မ်ပြန်လည် ဖြစ်လာသော အမျိုးသမီးကို မဆိုလိုပေ။ ဤသို့သော အမျိုးသမီးနှင့်မူ ထိမ်းမြားပိုင်သည်။

ဤအာယတ်တော်တွင် ပါရှိသော "ဇာနိယဟ်" ကာမေသုမိစ္ဆာစာရမှု ကျူးလွန်သော အမျိုးသမီးဟူသည် ယင်းမိစ္ဆာစာရမှု၌ ယခု နစ်မွန်းနေဆဲ အမျိုးသမီးကို ဆိုလိုသည်။ တစ်ချိန်ကမိုက်မှား၍ ကာမေသုမိစ္ဆာစာရ၌ နစ်မွန်းခဲ့ပြီး ထို့နောက်ဝန်ချတောင်းပန်၍ မိမိ၏ကာယိန္ဒြေကို ထိန်းသိမ်းကာ ကောင်းမွန်စွာ နေထိုင်သော အမျိုးသမီးကို မဆိုလိုပေ။ ဤသို့သော အမျိုးသမီးနှင့် ထိမ်းမြားပိုင်ခွင့်ရှိသည်။ ရှရစ်က်မှု၊ ကာမေသုမိစ္ဆာမှု၌ နစ်မွန်းနေဆဲ အမျိုးသမီးများနှင့်သာလျှင် မထိမ်းမြားပိုင်ပေ။ ယင်းသို့သော အမျိုးသမီးယုတ်များနှင့်မူ "အသွင်မတူ အိမ်သူမဖြစ်" ဆိုသကဲ့သို့ ယုတ်မာသော အမျိုးသားများသာလျှင် မသူတော်ချင်း၊ ခွေးချင်းသင့်ကာ ပေါင်းသင်းကြမည်သာဖြစ်သတည်း။

**မှတ်ချက်။**

"မုရှ်ရိကဟ်" "ဇာနိယဟ်" နှစ်ဦးစလုံးနှင့် ထိမ်းမြားခြင်းသည် ဟရာမ်ဖြစ်သည်။ အပြစ်ဖြစ်သည်။ "မုရှ်ရိကဟ်" နှင့်ကား ထိမ်းမြားပိုင်ခွင့်ပင် အလျှင်းမရှိပေ။ ဇာနိယဟ်နှင့် ထိမ်းမြားခြင်းသည် ဥပဒေအရ ပိုင်သည်ဟု ဆိုနိုင်သော်လည်း အလ္လာဟ်အရှင်မြတ်ထံ၌မူ အပြစ်မုချ ရှိသည်သာ၊ ကြည့်-မာဂျိဒီ-ထာနဗီ။

وَالَّذِينَ يَرْمُونَ الْمُحْصَنَاتِ ثُمَّ لَمْ يَأْتُوا بِأَرْبَعَةِ شُهَدَاءَ فَاجْلِدُوهُمْ ثَمَانِينَ جَلْدَةً وَلَا تَقْبَلُوا لَهُمْ شَهَادَةً أَبَدًا ۚ وَأُولَٰئِكَ هُمُ الْفَاسِقُونَ ④

၄။ ၎င်းပြင် အပြစ်ကင်းစင်သော အမျိုးသမီးများအား (ကာမေသုမိစ္ဆာစာရကျူးလွန်သည်ဟု)စွပ်စွဲပြီးနောက် သက်သေလေးယောက် တင်မပြနိုင်ခဲ့ကြသောသူတို့အား အသင်တို့သည် ကြိမ်ဒဏ်အချက်ပေါင်းရှစ်ဆယ် ရိုက်ကြလေကုန်။ ၎င်းပြင် အသင်တို့သည် မည်သည့်အခါမျှ ၎င်းတို့၏ မည်သို့သောသက်သေခံချက်ကိုမျှ *လက်မခံကြကုန်လင့်။* [၁] စင်စစ်သော်ကား ထိုသူတို့သည်ပင်လျှင် *စည်းကမ်းဖောက်ဖျက်သူများဖြစ်ကြကုန်၏။* [၂]

إِلَّا الَّذِينَ تَابُوا مِنْ بَعْدِ ذَٰلِكَ وَأَصْلَحُوا فَإِنَّ اللَّهَ غَفُورٌ رَحِيمٌ ⑤

၅။ သို့ရာတွင်အကြင်သူတို့သည် ထို့နောက် ဝန်ချတောင်းပန်ကြ၍ (မိမိတို့ကိုယ်ကို) ပြုပြင်ခဲ့ကြသည်ရှိသော် ဧကန်မလွဲ အလ္လာဟ်အရှင်မြတ်သည် အလွန်တရာ ခွင့်လွှတ်တော်မူသော အလွန်တရာ သနားညှာတာတော်မူသောအရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။ [၃]

---

(၁) **အပြစ်မဲ့အမျိုးသမီးတို့အား မတရားစွပ်စွဲ ပြောဆိုသူများ၏ အပြစ်ဒဏ်။**

ကာမေသု မိစ္ဆာစာရမှုနှင့် စပ်လျဉ်း၍ စင်ကြယ်သန့်ရှင်း လုံးဝအပြစ်ကင်းသော ကာမေသုမိစ္ဆာစာရမှုနှင့်ငြိစွန်းသည်ဟူ၍ တစ်စုံတစ်ရာ အထောက်အထား သက်သေလက္ခဏာမရှိသော ကာယိန္ဒြေရှိသော အမျိုးသမီးများအား ကာမေသုမိစ္ဆာစာရ ကျူးလွန်ပါသည်ဟု တရားဝင်သက်သေ အထောက်အထားမရှိဘဲ မတရားစွပ်စွဲပြောဆိုသော သူများကို ကြိမ်ဒဏ်(၈၀) ရိုက်ရမည့်အကြောင်း ဤအာယတ်တော်တွင် မိန့်ဆိုထားတော်မူသည်။ ထို့အတူ ကာမေသုမိစ္ဆာစာရမှုနှင့် စပ်လျဉ်း၍ အပြစ်ကင်းမဲ့သော အမျိုးသားများအား ကာမေသုမိစ္ဆာစာရမှု ကျူးလွန်ပါသည်ဟု မတရားစွပ်စွဲပြောဆိုသော သူများကိုလည်း ကြိမ်ဒဏ်(၈၀) ရိုက်ရမည်ပင် ဖြစ်သည်။ ဤအာယတ်တော်များသည် အမျိုးသမီးတစ်ဦးနှင့် ပတ်သက်၍ ကျရောက်လာခဲ့သည့်အတွက် အမျိုးသမီးများ၏ အကြောင်းကိုသာ မိန့်ဆိုထားတော်မူသည်ဖြစ်ရာ ဤအမိန့်တော်တွင် အမျိုးသားများလည်း အကျုံးဝင်လျက်ရှိသည်ကို သိရာသည်။

[လူ့လောကတွင် လူသားတို့အဖို့ ကာယိန္ဒြေ ထိန်းသိမ်းမှုသည် တန်ဖိုးမဖြတ်နိုင်၊ အလွန်ကြီးမားသော ဂုဏ်သိက္ခာတစ်ရပ်ပင် ဖြစ်သည်။ ကာမေသုမိစ္ဆာစာရမှု ကျူးလွန်ပါသည်ဟူ၍ မတရားစွပ်စွဲပြောဆိုခြင်း ခံရပါက ယင်းသို့ စွပ်စွဲပြောဆိုခြင်းခံရသော အမျိုးသမီး အမျိုးသားတို့၏ ဂုဏ်သိက္ခာကို အလွန်ထိပါး နစ်နာစေသည်။

[ ထို့အတွက် ယင်းသို့စွပ်စွဲပြောဆိုသူများသည် တရားဝင်သက်သေ(၄)ဦးကို တင်ပြကြရမည်၊ ➢➢

➤➤ အကယ်၍ အစ္စလာမ် တရားတော်နှင့်အညီ တရားဝင်သက်သေ (၄)ဦးတင်ပြပါက ကာမေသုမိစ္ဆာစာရမှု ကျူးလွန်ပါသည်ဟု စွပ်စွဲပြောဆိုခြင်းခံရသော အမျိုးသမီး၊ အမျိုးသားတို့အား (ဇိနာ) ကာမေသုမိစ္ဆာစာရ ကျူးလွန်ခြင်း၏ ပြစ်ဒဏ်ကို တပ်ရိုက်ရမည်ဖြစ်သည်။ အကယ်၍ စွပ်စွဲပြောဆိုသူများသည် ယင်းသို့ စွပ်စွဲပြောဆိုပြီးနောက် တရားဝင်သက်သေ (၄)ဦး တင်မပြနိုင်ကြပါက (စွပ်စွဲခံရသူ၏ တောင်းဆိုချက်အရ) ၎င်းတို့အား ကြိမ်ဒဏ်(၈၀) တပ်ရိုက်ရမည်ဖြစ်သည်။ ထို့နောက် ဟနဖီဂိုဏ်း၏ ယူဆချက်အရ လူမှုရေးကိစ္စ အဝဝတွင် ၎င်းတို့၏ သက်သေထွက်ဆိုချက်များကို အမြဲတစေ လက်မခံရတော့ပေ။ ထို့ပြင်တစ်ဝ ယင်းသို့ မတရား စွပ်စွဲပြောဆိုသူများသည် မိမိတို့၏ အမှားကို ဝန်ချတောင်းပန်ကြပြီးသည့် နောက်ပိုင်းတွင်လည်း ၎င်းတို့၏ သက်သေထွက်ဆိုချက်များကို လက်ခံရတော့မည် မဟုတ်ပေ။

**မှတ်ချက်။**

(၁) အမျိုးသမီးတစ်ဦးအား မတရား စွပ်စွဲပြောဆိုပါက ပြစ်ဒဏ်မှာ ဤအာယတ်တော်ပါအတိုင်း ဖြစ်သည်။

(၂) ထို့အတူ အမျိုးသားတစ်ဦးအား မတရား စွပ်စွဲပြောဆိုပါကလည်း ပြစ်ဒဏ်မှာ ဤအတိုင်းပင်ဖြစ်သည်။

(၃) ဤပြစ်ဒဏ်မှာ မတရားစွပ်စွဲ ပြောဆိုမှုတိုင်း၏ ပြစ်ဒဏ်မဟုတ်၊ ကာမေသုမိစ္ဆာစာရမှုနှင့် စပ်လျဉ်း၍ မတရားစွပ်စွဲပြောဆိုမှု၏ ပြစ်ဒဏ်သာဖြစ်သည်။
ဤအာယတ်တော်တွင် "ကာမေသုမိစ္ဆာစာရမှုနှင့် စပ်လျဉ်း၍"ဟူသော စည်းကမ်းချက်သည် အတိအလင်းမပါရှိသော်လည်း "သက်သေ(၄) ဦး တင်ပြရမည်"ဟူသော အချက်သည် ဤသည့်အချက်ကို ညွှန်လျက်ရှိသည်။ အဘယ့်ကြောင့် ဆိုသော် သက်သေ (၄)ဦးတင်ပြရခြင်းမှာ ကာမေသုမိစ္ဆာစာရမှု အမှန်ကျူးလွန်ကြောင်း ထင်ရှားစေရန် အတွက်သာဖြစ်သည်။

(၄) ကြိမ်ဒဏ်(၈၀) တပ်ရိုက်ခြင်းမှာ လွတ်လပ်သူအဖို့သာဖြစ်သည်။ ကျေးကျွန်အဖို့ ကြိမ်ဒဏ်(၄၀)သာဖြစ်သည်။

(၅) "မုဟ်ဆွင်န်" ဖြစ်ရန် စည်းကမ်းချက်များမှာ (က)လွတ်လပ်သူ ဖြစ်ခြင်း၊ (ခ)အသိဉာဏ်ရှိသူဖြစ်ခြင်း၊ (ဂ)အရွယ်ရောက်သူဖြစ်ခြင်း၊ (ဃ)မွတ်စ်လင်မ်ဖြစ်ခြင်း (င)ကာမေသုမိစ္ဆာစာရမှုနှင့် လွတ်ကင်းသူဖြစ်ခြင်း ဖြစ်သည်။

(၆) ပြစ်ဒဏ်မှစွပ်စွဲခြင်းခံရသူ တောင်းဆိုမှသာလျှင် ဒဏ်တပ်ရိုက်ရသည်။

(၇) စွပ်စွဲခြင်းခံရသူက စွပ်စွဲသူအား ခွင့်လွှတ်လိုက်ပါက ပြစ်ဒဏ်သည် ပလပ်သွားပေမည်။ ထာနဝီ။

## ② အကြောင်းမဲ့ သူတစ်ပါး၏အပြစ်ကို ထုတ်ဖော်မပြောရာ။

အကယ်၍ ယင်းသို့ စွပ်စွဲပြောဆိုသူများသည် တမင်သက်သက် သိပါလျက်နှင့် မတရား စွပ်စွဲပြောဆိုခြင်း ပြုမှုပါက ထိုသို့သောသူများသည် "ဖာစစ်က်" စည်းကမ်းချိုးဖောက်သူများ၊ ကျူးကျော်စော်ကား သူများဖြစ်ကြသည်မှာ ထင်ရှားလှပေသည်။

တစ်ဖန် ၎င်းတို့စွပ်စွဲပြောဆို ကြသည့်အတိုင်း အမှန်ပင် ဖြစ်နေစေကာမူ အကယ်၍ မိမိတို့၏ စွပ်စွဲချက်နှင့် စပ်လျဉ်း၍ တရားဝင်သက်သေ (၄)ဦး တင်ပြနိုင်ကြမည် မဟုတ်သည်ကို သိရှိပါက ယင်းသို့ စွပ်စွဲ ပြောဆိုလိုက်ခြင်းဖြင့် မွတ်စ်လင်မ် တစ်ဦးအား အရှက်တကွဲ ဖြစ်စေရုံသာဖြစ်ပေမည်။ ဤကား အလွန် ယုတ်မာသော အပြုအမူသာဖြစ်သည်။

အကြောင်းမဲ့ သူတစ်ပါး၏ အပြစ်ကို ထုတ်ဖော်မပြောဆိုရာ။ အကြောင်းမဲ့ သူတစ်ပါး အရှက်တကွဲ အကျိုးနည်း ဖြစ်စေခြင်းသည် ကြီးလေးသော အပြစ်ဖြစ်သည်။

وَالَّذِيْنَ يَرْمُوْنَ اَزْوَاجَهُمْ وَلَمْ يَكُنْ لَّهُمْ شُهَدَآءُ اِلَّآ اَنْفُسُهُمْ فَشَهَادَةُ اَحَدِهِمْ اَرْبَعُ شَهٰدٰتٍۢ بِاللّٰهِۙ اِنَّهٗ لَمِنَ الصّٰدِقِيْنَ ۝٦

၆။ ထို့ပြင် မိမိတို့၏ဇနီးကြင်ရာများအား (ကာမေသုမိစ္ဆာစာရမှု ကျူးလွန်ပါသည်ဟု) စွပ်စွဲသောသူတို့သည် ၎င်းတို့၌ မိမိတို့အပြင် သက်သေများ မရှိကြလျှင် ထိုစွပ်စွဲသူတို့အနက် တစ်ဦးသည် အလ္လာဟ်အရှင်မြတ်အား တိုင်တည်၍ မိမိသည် သစ္စာဝါဒီဖြစ်ကြောင်း လေးကြိမ်တိုင်တိုင် သက်သေထွက်ဆိုရမည်။

وَالْخَامِسَةُ اَنَّ لَعْنَتَ اللّٰهِ عَلَيْهِ اِنْ كَانَ مِنَ الْكٰذِبِيْنَ ۝٧

၇။ ၎င်းပြင် ပဉ္စမအကြိမ်တွင် အကယ်၍ မိမိသည် မုသာဝါဒီဖြစ်ခဲ့မူ မိမိအပေါ်၌ အလ္လာဟ်အရှင်မြတ်၏ကျိန်ဆဲချက်သည် ကျရောက်ပါစေဟုဆိုရမည်။

وَيَدْرَؤُا عَنْهَا الْعَذَابَ اَنْ تَشْهَدَ اَرْبَعَ شَهٰدٰتٍۢ بِاللّٰهِۙ اِنَّهٗ لَمِنَ الْكٰذِبِيْنَ ۝٨

၈။ ၎င်းပြင် ထိုဇနီးကြင်ရာသည် အလ္လာဟ်အရှင်မြတ်အား တိုင်တည်၍ ဧကန်မလွဲ ထိုယောကျ်ားသည် မုသာဝါဒီဖြစ်ကြောင်း လေးကြိမ်တိုင်တိုင် သက်သေထွက်ဆိုခြင်းသည် ထိုဇနီးကြင်ရာမှ ပြစ်ဒဏ်တော်ကို ဖယ်ရှားမည်ဖြစ်သည်။

---

(၃) **မတရားစွပ်စွဲပြောဆိုမိသူ ဝန်ချတောင်းပန်ကြသော်။**

အကယ်၍ မတရား စွပ်စွဲပြောဆိုသူများသည် ဝန်ချတောင်းပန်ကြသော်၊ မိမိတို့ကိုယ်ကို ပြုပြင်ကြသော်၊ ၎င်းတို့သည် အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်များကို သွေဖည်ငြင်းဆန် မနာခံသောသူတို့၏ စာရင်းမှ ပယ်ဖျက်ခြင်း ခံကြရပေမည်။ သို့ပင်တစေလည်း ယခင်က သူတစ်ပါးအား အရှက်တကွဲ အကျိုးနည်းဖြစ်အောင် မတရား စွပ်စွဲ ပြောဆိုမိခဲ့ကြသည့်အတွက် ၎င်းတို့၏ သက်သေထွက်ဆိုချက်များကိုမူ (မုအာမလာတ်) လူသားတို့ အချင်းချင်း ရောင်းဝယ်ရေး၊ ဆက်ဆံရေးများနှင့် အမှုအခင်းများတွင် လက်ခံတော့မည် မဟုတ်ပေ။

ဤသည် ကာဇီရှုရိုင်ဟ်၊ အစ်ဗ်ရာဟီမ်နခအီ၊ စအီဒ်အစ်ဗ်နဂျူဗိုင်ရ်၊ မာက်ဟူလ်၊ အဗ်ဒုရ်ရဟ်မာန် အစ်ဗ်န ဇိုက်ဒ်၊ အစ်ဗ်န ဂျာဗိရ်၊ ဟာစန်ဗဆွ်ရီ၊ မုဟမ္မဒ် အစ်ဗ်န စီရီန်၊ စအီဒ် အစ်ဗ်န မုစိုင်ယိဗ် တို့၏ အဆိုတည်း။

ဒုရ်ရီမန်ဆူရ်နှင့် အစ်ဗ်နကဆီရ် ကျမ်းများတွင်လည်း ဤအတိုင်းပင် လာရှိပေသည်။

وَالْخَامِسَةَ أَنَّ غَضَبَ اللَّهِ عَلَيْهَا إِنْ كَانَ مِنَ الصَّادِقِينَ ⑨

၉။ ထို့ပြင် ပဉ္စမအကြိမ်၌ အကယ်၍ ထိုယောကျ်ားသည် သစ္စာဝါဒီဖြစ်ခဲ့မူ မိမိအပေါ်၌ *အလ္လာဟ်အရှင်မြတ်၏အမျက်တော်သည် ကျရောက်ပါစေဟု* ထွက်ဆိုရမည်။ [၁]

---

(၁) **မိမိတို့၏ ဇနီးမိန်းမများအား သက်သေမရှိဘဲ စွပ်စွဲသူများ၏ပြဿနာ။**

အကြင်သူသည် မိမိ၏ ဇနီးမိန်းမအား ကာမေသုမိစ္ဆာစာရမှု ကျူးလွန်ပါသည်ဟု စွပ်စွဲပြောဆိုအံ့။ ထိုသို့သောသူထံမှ ပထမသော် သက်သေ(၄)ဦး တင်ပြရန်တောင်းဆိုရမည်။ အကယ်၍ ထိုသူသည် သက်သေ(၄)ဦး တင်ပြနိုင်လျှင်၊ ၎င်း၏ အစွပ်စွဲခံဇနီးမိန်းမများအား ကာမေသုမိစ္ဆာစာရမှု၏ ပြစ်ဒဏ် တပ်ရိုက်ရမည်ဖြစ်သည်။ အကယ်၍ ထိုသူသည် သက်သေ(၄)ဦး တင်မပြနိုင်လျှင် ဤအာယတ်တော်တွင် လာရှိသည့်အတိုင်း (၄)ကြိမ် အလ္လာဟ်အရှင်မြတ်အား တိုင်တည်၍ ၎င်းသည် မိမိစွပ်စွဲချက်တွင် မှန်ကန်စွာပြောဆိုသူ ဖြစ်ပါသည်ဟု ထွက်ဆိုသက်သေခံရမည်။

[တစ်နည်းအားဖြင့် အလ္လာဟ်အရှင်မြတ်အား တိုင်တည်၍ ယင်းသို့(၄)ကြိမ် ထွက်ဆိုသက်သေခံခြင်းသည် သက်သေ(၄)ဦး၏အစား ဖြစ်သွားပေသည်] ယင်းသို့ လေးကြိမ်ထွက်ဆို သက်သေခံပြီးနောက် ပဉ္စမအကြိမ်တွင် "အကယ်၍ ၎င်းသည် မိမိထွက်ဆိုချက်တွင် လိမ်လည်သူဖြစ်ပါက ၎င်းအပေါ်၌ အလ္လာဟ်အရှင်မြတ်၏ "လအ်နတ်" ကျိန်ဆဲမှုသက်ရောက်ပါစေ" ဟုဆိုရမည်။

အကယ်၍ ထိုသူသည် အထက်ပါစကားရပ်များကို ဖွင့်ဟပြောဆိုခြင်းမပြုပါက အာဏာပိုင်များသည် ထိုသူအား မိမိလိမ်လည်စွပ်စွဲကြောင်း ဝန်ခံသည်အထိ၊ သို့မဟုတ် အထက်ပါ စကားများကို ပြောဆိုသည်အထိ အကျဉ်းချထားရမည်။ အကျပ်ကိုင်ရမည်။ အကယ်၍ ထိုသူသည် မိမိလိမ်လည်စွပ်စွဲကြောင်း ဝန်ခံပါက ထိုသူအား (ကုရ်အာန်ကျမ်းမြတ် ၂၄:၄ တွင် လာရှိသည့်အတိုင်း) မတရား စွပ်စွဲခြင်း၏ပြစ်ဒဏ် တပ်ရိုက်ရမည်။ အကယ်၍ ထိုသူသည် အထက်ပါစကားရပ်များကို ဖွင့်ဟပြောဆိုပါက ၎င်း၏ဇနီးမိန်းမကို ၄-ကြိမ် အလ္လာဟ်အရှင်မြတ်အား တိုင်တည်၍ ၎င်း၏လင်ယောကျ်ားသည် ဤစွပ်စွဲချက်တွင် လိမ်လည်ပြောဆိုသူဖြစ်ပါသည်ဟု ဖွင့်ဟပြောဆိုရန် ပြောဆိုရမည်။ ပြီးနောက် ပဉ္စမအကြိမ်တွင် အကယ်၍ ၎င်း၏ လင်ယောကျ်ားသည် ၎င်း၏စွပ်စွဲချက်တွင် မှန်ကန်စွာ ပြောဆိုသူဖြစ်ပါက မိမိအပေါ်၌ အလ္လာဟ်အရှင်မြတ်၏ "ဃဿဗ" အမျက်တော် သက်ရောက်ပါစေဟု ဆိုရန်ပြောဆိုရမည်။

အကယ်၍ ထိုမိန်းမသည် အဆိုပါ စကားရပ်များကို ဖွင့်ဟပြောဆိုခြင်းမပြုပါက အာဏာပိုင်များသည် ထိုမိန်းမအား မိမိ၏လင်ယောကျ်ား၏ စွပ်စွဲချက်ကို မှန်ကန်ပါသည်ဟု ဝန်ခံသည်အထိ (သို့မဟုတ်) အထက်ပါ စကားရပ်များကို ဖွင့်ဟပြောဆိုသည်အထိ အကျဉ်းချထားရမည်။ အကျပ်ကိုင်ရမည်။ အကယ်၍ ထိုမိန်းမသည် မိမိလင်ယောကျ်ား၏ စွပ်စွဲချက်ကို ဝန်ခံလိုက်သော် ထိုမိန်းမအား ကာမေသုမိစ္ဆာစာရမှု ကျူးလွန်ခြင်း၏ ပြစ်ဒဏ်တပ်ရိုက်ရမည်။ အကယ်၍ ထိုမိန်းမသည် မိမိလင်ယောကျ်ား၏ စွပ်စွဲချက်ကို မှားသည်ဟု ငြင်းပယ်၍ အထက်ပါ စကားရပ်များကို ဖွင့်ဟပြောဆိုပါက ထိုဇနီးမောင်နှံနှစ်ဦးတို့အပေါ်၌ ဇနီးမောင်နှံအဖြစ် ဆက်ဆံပေါင်းသင်းမှု အစစတို့သည် ဟရာမ်ဖြစ်သွားချေသည်။ ထို့နောက် လင်ယောကျ်ားက မိမိ၏ ဇနီးမိန်းမအား တလာတ် လင်ခန်း မယားခန်း ဖြတ်လိုက်ပါက ပြဿနာ ပြီးဆုံးသွားပေသည်။ သို့မဟုတ်လျှင် ➤➤

وَلَوْلَا فَضْلُ اللّٰهِ عَلَيْكُمْ وَرَحْمَتُهٗ وَاَنَّ اللّٰهَ تَوَّابٌ حَكِيْمٌ ﴿١٠﴾

၁၀။ စင်စစ်သော်ကား အကယ်၍သာ အသင်တို့အပေါ်ဝယ် အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်သည်လည်းကောင်း၊ ထိုအရှင်မြတ်၏ ကရုဏာတော်သည်လည်းကောင်း၊ မရှိခဲ့လျှင် (အမှန်ကိုပေါ်လွင်စေတော်မူခဲ့မည်သာ။) သို့ရာတွင် ဧကန်မလွဲ အလ္လာဟ်အရှင်မြတ်မှာမူကား တောင်းပန်ဝန်ခံချက်ကို အလွန်တရာလက်ခံတော်မူသောအရှင်၊ အလွန်တရာ ဆင်ခြင်တုံတရားနှင့် ပြည့်စုံတော်မူသောအရှင်မြတ်ပင် ဖြစ်တော်မူပေရာ အသင်တို့အား ဝန်ချတောင်းပန်နိုင်ကြရန်အလို့ငှာ အခွင့်အရေး ပေးတော်မူခြင်းပင် ဖြစ်ပေသတည်း။ [၁]

---

➤➤ "ကာသွီ တရားသူကြီး" က ထိုဇနီးမောင်နှံ နှစ်ဦးတို့အား ထိုဇနီးမောင်နှံနှစ်ဦး မနှစ်သက်ကြလင့်ကစား "ကျွန်ုပ်သည် ဤဇနီးမောင်နှံနှစ်ဦးတို့အား တဖိရီက် ခွဲပစ်လိုက်ပြီ" ဟုဆိုကာ ခွဲပစ်လိုက်ရပေမည်။ ယင်းသို့ တရားသူကြီး၏ "တဖိရီက်" ခွဲပေးလိုက်ခြင်းသည် "တွာလာက်ဗာအင်န်" ၏သဘော သက်ရောက်ပေသည်။

**မှတ်ချက်။**

လင်ယောကျ်ားက မိမိ၏ဇနီးအား ကာမေသုမိစ္ဆာစာရမှု ကျူးလွန်ပါသည်ဟု စွပ်စွဲပြီး သက်သေမထူနိုင်သည့် အဆုံးတွင် ဇနီးမောင်နှံနှစ်ဦး အချင်းချင်း အပြန်အလှန် မင်္ဂလာစကား ပြောဆိုခြင်းကို "လိအာန်" ဟု ခေါ်သည်။ "လိအာန်" သည် မိမိတို့၏ ဇနီးမိန်းမများအား ကာမေသုမိစ္ဆာစာရမှု ကျူးလွန်ပါသည် ဟူ၍ စွပ်စွဲခြင်းနှင့်သာလျှင် သက်ဆိုင်သည်။ အပြစ်ကင်းသော အခြားအမျိုးသမီးတို့အား စွပ်စွဲခြင်း၏အပြစ်မှာ ကုရ်အာန် (၂၄:၄) တွင်ပါရှိသည့် အတိုင်းပင်ဖြစ်သည်။

**(၁) "လိအာန်"၏ ကျေးဇူး။**

အကယ်၍သာ "လိအာန်" ပြုလုပ်ပိုင်ခွင့်မရှိပါက လင်ယောကျ်ားတစ်ဦးသည် မိမိ၏ဇနီးမိန်းမအား ကာမေသုမိစ္ဆာစာရမှု ကျူးလွန်ပါသည်ဟု စွပ်စွဲပြောဆိုခဲ့သော်၊ ထို့နောက် သက်သေ(၄)ဦး တင်မပြနိုင်သော် မိမိ၏ စွပ်စွဲချက်မှာ အမှန်ဖြစ်ပါလျက်နှင့်ပင် မတရားစွပ်စွဲခြင်း၏ ပြစ်ဒဏ်တပ်ရိုက်ခြင်း ခံရမည်ဖြစ်သည်။ တစ်ဖန် ဇနီးမိန်းမ၌ ကာမေသုမိစ္ဆာစာရမှု ဖြစ်ပေါ်ခဲ့သည်မှာ အမှန်ဖြစ်ပါလျက်နှင့် သက်သေမရှိသည့်အတွက် ထုတ်ဖော်စွပ်စွဲခြင်းမပြုဘဲ၊ ပြောရအခက်၊ မပြောရအခက် ဆိုသကဲ့သို့ မိမိတစ်သက်တာ မျိုသိပ်နေရမည်သာဖြစ်သည်။ သို့ဖြစ်ရပါက လင်ယောကျ်ားအဖို့ နစ်နာဆုံး ရှုံးမှုကြီးတစ်ရပ်ပင်ဖြစ်ရပေမည်။

ပြီးနောက်တစ်ဖန်၊ လင်ယောကျ်ားက အလ္လာဟ်အရှင်မြတ်အား တိုင်တည်၍ စွပ်စွဲပြောဆိုသဖြင့် ဇနီးမိန်းမ၌ ကာမေသုမိစ္ဆာစာရမှု အတည်ဖြစ်သွားပြီး၊ ကာမေသုမိစ္ဆာစာရမှု ကျူးလွန်ခြင်း၏ ပြစ်ဒဏ်တပ်ရိုက်ခြင်း ခံရမည်ဖြစ်ပါက ဇနီးမိန်းမအဖို့လည်း နစ်နာဆုံးရှုံးမှုကြီး တစ်ရပ်ပင်။ အဘယ့်ကြောင့်ဆိုသော် ဤကိစ္စတွင် သက်သေတစ်စုံတစ်ရာ မရှိသည်ဖြစ်ရာ လင်ယောကျ်ား၏ စွပ်စွဲချက်သည် မှားပြီး၊ ဇနီးမိန်းမသည် ➤➤

إِنَّ الَّذِينَ جَاءُو بِالْإِفْكِ عُصْبَةٌ مِّنكُمْ ۚ لَا تَحْسَبُوهُ

၁၁။ ဧကေန်အမှန် (ဤ)မုသားစွပ်စွဲချက်ကို ဖြန့်ချီခဲ့သောသူတို့ကား အသင်တို့အနက်မှ အုပ်စု(ကလေး) တစ်ခုပင်ဖြစ်၏။ ၁

➤➤ အပြစ်ကင်းသူလည်း ဖြစ်နိုင်ပေသည်။ ထို့အတူ ဇနီးမိန်းမက အလ္လာဟ်အရှင်မြတ်အား တိုင်တည်၍ မိမိ၌ လင်ယောကျ်ားက စွပ်စွဲသည့်အတိုင်း အပြစ်တစ်စုံတစ်ရာ မရှိပါဟု ပြောဆိုသဖြင့် ဇနီးမိန်းမအား အပြစ်ကင်းသူဟူ၍ တထစ်ချ ယုံကြည်ယူဆ အဆုံးအဖြတ်ပေးခြင်းခံရပါက လင်ယောကျ်ားသည် မတရားစွပ်စွဲခြင်း၏ ပြစ်ဒဏ်တပ်ရိုက်ခြင်း ခံရမည် ဖြစ်သည်။ အဘယ့်ကြောင့်ဆိုသော် ဤကိစ္စတွင် လင်ယောကျ်ားသည် အမှန်လည်း ဖြစ်နိုင်ပေသည်။

"လိအာန်" ပြုပိုင်ခွင့်သာမရှိပါက ဇနီးမောင်နှံ နှစ်ဦးစလုံးအဖို့ ဆုံးရှုံးမှုကြီး ဖြစ်နိုင်ပေသည်။ ယခုမူ အလ္လာဟ်အရှင်မြတ်က မိမိ၏ကျေးဇူးတော်ဖြင့် "လိအာန်" ပြုပိုင်ခွင့်ပြုထားတော်မူသည့်အတွက် ဇနီးမောင်နှံ နှစ်ဦးတို့အနက် အပြစ်မဲ့သူသည် အကြောင်းမဲ့ ပြစ်ဒဏ်ခံရခြင်းမှ လွတ်မြောက် သွားနိုင်ပေသည်။ အပြစ်ရှိသူအဖို့မှာလည်း ဤပစ္စက္ခတွင် အပြစ်ဖုံးကာ ဝန်ချတောင်းပန်နိုင်ရန် အခွင့်အလမ်း ရရှိသွားပေသည်။

**မှတ်ချက်။**

ဇနီးမောင်နှံနှစ်ဦးတို့၏ ဤအိမ်တွင်းရေးပြဿနာတွင် လင်ယောကျ်ားအား ထောက်ထားခြင်းမှာ လင်ယောကျ်ားတစ်ဦးအဖို့ မိမိ၏ဇနီးမိန်းမ ဖောက်ပြန်သည်ကို သိရှိနေပါလျက် မျိုသိပ်၍နေရမည်မှာ မလွယ်ကူပေ။ အခြားယောကျ်ားများအဖို့မှာကား ၎င်းတို့၏အိမ်တွင်းရေး မဟုတ်သည့်အတွက် သိရှိပါလျက်လည်း မျိုသိပ်နေနိုင်ကြပေသည်။ ထို့အတွက်ကြောင့်ပင် အခြားသူများအား တရားတော်က ထောက်ထားခြင်းမပြုပေ။ ၎င်းတို့သည် သူတစ်ပါးအား စွပ်စွဲပြောဆိုကြပါက တရားဝင်သက်သေ(၄)ဦး တင်ပြကြရမည်ဖြစ်သည်။ သို့ တင်မပြနိုင်ကြပါက မတရားစွပ်စွဲခြင်း၏ အပြစ်ဒဏ် တပ်ရိုက်ခြင်း ခံကြရမည်ဖြစ်သည်။

(၁) **ကြင်ရာတော် အာအေ့ရှဟ် သခင်မအား လုပ်ကြံစွပ်စွဲခြင်း။**

ဤအာယတ်တော်များတွင် ကြင်ရာတော် အာအေ့ရှဟ်သခင်မအား မဟုတ်မမှန် လုပ်ကြံစွပ်စွဲပြောဆိုခဲ့သူ တစ်စုကို ရည်ညွှန်းမိန့်ဆို ထားတော်မူသည်။ဖြစ်ရပ်အကျဉ်းချုပ်မှာ ဤသို့တည်း။ ဟီဂျ်ရီသက္ကရာဇ် (၆)ခုနှစ်တွင် ဗနီမုဆ္ဍလိက် စစ်ပွဲဖြစ်ပွားခဲ့၏။ တမန်တော်မြတ်ကိုယ်တိုင် ပါဝင်ဆင်နွှဲတော်မူခဲ့၏။ တမန်တော်မြတ်နှင့်အတူ ကြင်ရာတော် အာအေ့ရှဟ်သခင်မလည်း အတူလိုက်ပါခဲ့၏။ ကြင်ရာတော်စီးရန်အတွက် သီးသန့် ကုလားအုတ်တစ်ကောင် ပါရှိခဲ့၏။ ကြင်ရာတော်သည်(Camel Litter) ယာဉ်ပေါင်းတွင်"ပရ်ဒဟ်" ကန့်လန့်ကာများချ၍ ထိုင်ခဲ့၏။ ကုလားအုတ်ဆွဲသူသည် ယာဉ်ပေါင်းကို ကုလားအုတ်ပေါ်တွင် တင်ဆောင်၍ စနစ်တကျထုပ်နှောင်ပြီး ကုလားအုတ်ကို လိုရာဌာနကို ဆွဲသွားခဲ့၏။ တမန်တော်မြတ်သည် စစ်ပွဲပြီးဆုံးသွားသည့်အခါ မဒီနာသို့ ပြန်ကြွလာနေတော်မူခဲ့၏။

တမန်တော်မြတ်နှင့်တကွ စစ်သည်တော်များသည် စခန်းတစ်ခုတွင် ခေတ္တရပ်နားခဲ့ကြ၏။ စစ်တပ်ချီမတက်မီ တစ်ခဏအလိုတွင် ကြင်ရာတော်သည် အပေါ့အပါးသွားရန်အတွက် စစ်တပ်မှ မလှမ်းမကမ်း အကာအကွယ်ရှိရာသို့ သွားခဲ့၏။ အကြောင်းအားလျော်စွာ ကြင်ရာတော် ဆွဲထားသော ဆွဲကြိုးသည် ပြတ်၍ ကျသွားခဲ့လေသည်။ ကြင်ရာတော်သည် ပြတ်ကျသွားသော ဆွဲကြိုးကို ရှာဖွေနေခဲ့၏။ သို့ရှာဖွေ နေရာတွင် အချိန်အနည်းငယ် ကြာသွားခဲ့၏။ ထိုအခိုက်မှာပင် စစ်တပ်သည် ခရီးဆက်ရန်အတွက် ချီတက် ➤➤

➤➤ ထွက်ခွာသွားခဲ့လေသည်။ ကြင်ရာတော်၏ ကုလားအုတ်ဆွဲသူသည်လည်း မိမိ အလေ့အထအတိုင်း ယာဉ်ပေါင်းကို ကုလားအုတ် အပေါ်သို့ တင်ဆောင်ရန် ရောက်ရှိလာခဲ့၏။ ယာဉ်ပေါင်းပေါ်တွင် ကန့်လန့်ကာများ ကျလျက်ရှိသည့်အတွက် ယာဉ်ပေါင်းတွင် ကြင်ရာတော်ရှိသည်ဟု ယူဆကာ ယာဉ်ပေါင်းကို ကုလားအုတ်အပေါ်သို့ တင်ဆောင်လိုက်လေသည်။ ကုလားအုတ်ဆွဲသူသည် ယာဉ်ပေါင်းကို တင်ဆောင်ရာတွင်လည်း ကြင်ရာတော် မပါရှိသည်ကို မရိပ်စားမိခဲ့ပေ။ အဘယ့်ကြောင့်ဆိုသော် ကြင်ရာတော်သည် ထိုအချိန်တွင် အသက်အရွယ်အားဖြင့် ငယ်ရွယ်သူ ဖြစ်ခဲ့သည်။ ကိုယ်ခန္ဓာ၏ အလေးချိန်မှာလည်း ပေါ့ပါးခဲ့သည်။ ထို့အတွက် ကုလားအုတ် ဆွဲသူသည်လည်း မိမိ၏ ကုလားအုတ်ကို ဆွဲကာ စစ်တပ်နှင့်အတူ ခရီးထွက်သွားခဲ့လေသည်။

ကြင်ရာတော်သည် မိမိအစီးအနင်းရှိရာသို့ ပြန်ရောက်သည့်အခါ တစ်ဦးတစ်ယောက်ကိုမျှ မတွေ့ရတော့ပေ။ စစ်တပ်သည် ချီတက်သွားနှင့်ချေပြီ။ ထိုအချိန်တွင် ကြင်ရာတော်သည် 'မိမိမှာ မိန်းမသားတစ်ဦးဖြစ်သည်။ စစ်တပ်နောက်သို့ တစ်ဦးတည်း လိုက်သွားရန်မှာ မသင့်ပေ။ မလွယ်ပေ။ ဒုတိယ စခန်းချရာနေရာတွင် မိမိမပါရှိသည်ကို တွေ့ရှိကြသောအခါ မိမိအားရှာဖွေရန်အတွက် ဤနေရာသို့ ရောက်ရှိလာကြမည်ပင် ဖြစ်သည်ဟု သတိဝီရိယကြီးစွာဖြင့် စဉ်းစားဆင်ခြင်မြော်မြင်ကာ အဆိုပါနေရာ၌ပင် ဆိုင်းငံ့နေရန် ဆုံးဖြတ်၍ ဆိုင်းငံ့နေခဲ့လေသည်။ ထိုအချိန်မှာ ညဥ့်အချိန်ဖြစ်သည်။ အိပ်စက်လိုသည့်အတွက် ထိုနေရာမှာပင် စောင်ခြုံကာ လဲလျောင်း၍ အိပ်နေခဲ့လေသည်။

သာဝကကြီး ဆွာဖ်ဝါန် အစ်ဖ်နု မုအတ္တာလ်သည် စစ်တပ်ချီတက်သွားရာတွင် စစ်တပ်မှ ကျန်ရစ်ခဲ့သော ပစ္စည်းများကို သိမ်းဆည်းနိုင်ရန်အတွက် တာဝန်အလျောက် စစ်တပ်၏နောက်တွင် မလှမ်းမကမ်းမှ လိုက်ပါခဲ့သည်။ အဆိုပါ သာဝကကြီးသည် မိုးလင်းသည့်အချိန်တွင် ကြင်ရာတော်လဲလျောင်းနေသည့် နေရာသို့ ရောက်ရှိလာခဲ့လေသည်။ အဆိုပါ သာဝကကြီးသည် လမ်းတွင် လဲလျောင်းနေသူတစ်ဦးကို အဝေးမှ တွေ့မြင်မိလေသည်။ အနီးသို့ ရောက်သောအခါ လဲလျောင်းနေသူမှာ ကြင်ရာတော် အာအိရှဟ်သခင်မ ဖြစ်နေသည်ကို တွေ့မြင်ရသည့်အတွက် အံ့သြ၊ စိုးရိမ်ကြောက်လန့်ပြီး 'အစ်န်နာလိလ္လာဟိ ဝအစ်န်နာအိလိုင်ဟီ ရာဂျီအွန်' ဟူသော အာယတ်တော် ရွတ်ဖတ်လိုက်လေသည်။ ထိုအခါ ကြင်ရာတော်သည် မျက်စိပွင့်သွားပြီး မိမိ၏မျက်နှာကို စောင်ဖြင့် ဖုံးကွယ်ထားလိုက်လေသည်။

ထိုအခါ သာဝကကြီး ဆွာဖ်ဝါန်သည် မိမိ စီးနင်းလိုက်ပါလာခဲ့သော ကုလားအုတ်ကို ကြင်ရာတော် အနီးသို့ ဆွဲယူလာပြီး ကုလားအုတ်ကို ထိုင်စေခဲ့သည်။ ကြင်ရာတော်သည် 'ပရ်ဒဟ်' ခြုံကာ ကုလားအုတ်အပေါ်သို့ တက်စီးခဲ့လေသည်။ သာဝကကြီး ဆွာဖ်ဝါန်သည် မိမိကိုယ်တိုင် ကုလားအုတ်ကို မစီးဘဲ ကုလားအုတ်ကြိုးကိုဆွဲကာ စစ်တပ်နောက်သို့ အမြန်လိုက်လာခဲ့ရာ တစ်ခဏချင်းအတွင်း စစ်တပ်ကိုမီလာပြီး ကြင်ရာတော်အား တမန်တော်မြတ် ထံသို့ ကောင်းမွန်စွာ ပို့ပေးခဲ့လေသည်။ ဖြစ်ရပ်ကား ဤမျှသာတည်း။

သို့ရာတွင် မုနာဖစ်က်တို့၏ ခေါင်းဆောင်ဖြစ်သော၊ တမန်တော်မြတ်၏ရန်သူလည်းဖြစ်သော အဗ်ဒုလ္လာဟ် အစ်ဖ်နုအုဗိုင်ဟ်သည် တမန်တော်မြတ်၏ ဂုဏ်သိက္ခာကို ထိပါးပုတ်ခတ် ပြောဆိုရန်အတွက် အချက်ရကာ ဖော်ပြပါဖြစ်ရပ်ကို ပုံကြီးချဲ့ကာ ကြင်ရာတော် အာအိရှဟ်သခင်မနှင့် ပတ်သက်ပြီး မဟုတ်မလျား စော်စော်ကားကား စွပ်စွဲပြောဆို တီးတိုးဝါဒဖြန့်လေတော့သည်။ အချို့ ရိုးသားသော မွတ်စ်လင်မ်တစ်စု (ဥပမာ- အမျိုးသားများတွင် သာဝကကြီး ဟာစ္စာန်၊ သာဝကကြီး မစ္စတွာဟ်နှင့် အမျိုးသမီးတို့တွင် ဟမ်နဟ်ဗင်န် ဂျဟ်ရှ်သခင်မတို့) သည်လည်း မုနာဖစ်က်တို့၏ လုပ်ကြံစွပ်စွဲမှုကို ယောင်မှားပြီး သံယောင်ဖမ်းကာ မပြောသင့် မပြောအပ်သည်များကိုပင် ပြောဆိုမိခဲ့ ကြလေတော့သည်။ 

شَرًّا لَّكُمْ ۖ بَلْ هُوَ خَيْرٌ لَّكُمْ ۚ لِكُلِّ امْرِئٍ مِّنْهُم مَّا اكْتَسَبَ مِنَ الْإِثْمِ ۚ وَالَّذِي تَوَلَّىٰ كِبْرَهُ مِنْهُمْ لَهُ عَذَابٌ عَظِيمٌ ⑪

အသင်တို့သည် မိမိတို့နှင့်ပတ်သက်၍ ယင်းမုသား စွပ်စွဲချက်ကိုဆိုးရွားလှသည်ဟုမယူဆကြကုန်လင့်။ အမှန်စင်စစ်မှာမူကား၊ ယင်းမုသား စွပ်စွဲချက်သည် အသင်တို့နှင့် ပတ်သက်၍ကောင်းလှပေသည်။ *၊ထိုအုပ်စုအနက် အသီးသီး၌ မိမိရှာဖွေဆည်းပူးခဲ့သော ပြစ်မှုသည်ရှိပေသည်။* ထိုမှတပါး*ယင်းမုသား စွပ်စွဲမှု(ကိုဖြန့်ချီရာ၌) (အများဆုံး တာဝန်ယူ ဆောင်ရွက်ခဲ့သော)သူ၌မူ* အလွန်ကြီးလေးလှသောပြစ်ဒဏ်သည် ရှိပေသတည်း။

---

➢➢ ယင်းသို့ ကြင်ရာတော်နှင့်ပတ်သက်၍ မဟုတ်မမှန် စွပ်စွဲပြောဆိုခြင်းခံရသည့်အတွက် တမာန်တော်မြတ်နှင့်တကွ မုစ်လင်မ်များသည် အလွန်တရာမျှပင် စိတ်ထိခိုက်ခဲ့ကြရလေသည်။ တစ်လတိုင်တိုင်ထိုသည့် မတရားစွပ်စွဲမှုကြီးသည် ဖြစ်ပေါ်နေခဲ့သည်။ ၊တမာန်တော်မြတ်သည်ဖြစ်ရပ်မှန်ကို စူးစမ်းနေတော်မူခဲ့၏။ စိတ်တွင်း၌အထူးနာကြည်းလျက် ရှိတော်မူခဲ့၏။

ကြင်ရာတော် အာအေ့ရှဟ်သခင်မသည် မိမိနှင့်ပတ်သက်၍ ယင်းသို့မဟုတ်မမှန် လုပ်ကြံပြောဆိုနေကြသည်ကိုပင်၊ ပထမသော် အလျှင်းမသိခဲ့ရှာပေ။ မရိပ်စားမိခဲ့ရှာပေ။ တစ်လကျော်သော အခါကျမှ သိရှိခဲ့ရှာလေသည်။ ထိုအခါ မိမိအား ယင်းသို့မဟုတ်မမှန် လုပ်ကြံ၍ ရက်ရက်စက်စက် စော်စော်ကားကား စွပ်စွဲပြောဆိုရက်ကြသည့်အတွက် အလွန်တရာမျှစိတ်ထိခိုက်ပြီး ဝမ်းနည်းကြေကွဲကာ နေထိုင်မကောင်းပင် ဖြစ်သွားခဲ့ရရှာလေသည်။ ကြားသိရသည့်အချိန်မှစပြီး မျက်စိအစုံမှ မျက်ရည်ပေါက် များသည် မပြတ်မစဲ ယိုစီး၍နေခဲ့လေသည်။ ၊နေ့ရောညဉ့်ပါ ငိုကြွေး၍ နေခဲ့ရှာလေသည်။

နောက်ဆုံးတွင် အလ္လာဟ်အရှင်မြတ်ထံတော်မှ ဤအာယ်တော်များတွင် လာရှိသည့်အတိုင်း ဤစွပ်စွဲချက်မှာ မဟုတ်မမှန် လုပ်ကြံစွပ်စွဲခြင်းမျှသာ ဖြစ်ကြောင်း၊ ကြင်ရာတော် အာအေ့ရှဟ်သခင်မ၌ အပြစ်တစုံတရာ အလျှင်းမရှိကြောင်း အကျယ်တဝင့် 'ဝဟီ' ကျရောက် လာခဲ့ပေသည်။ ထိုအခါကျမှ ကြင်ရာတော် အာအ့ရှဟ်သခင်မသည် ဝမ်းသာမဆုံး ဖြစ်ခဲ့လေသည်။ ကြင်ရာတော်သည် ဝမ်းသာမဆုံးဖြစ်ခဲ့သည်သာမက မိမိ၌ အပြစ်တစုံတစ်ရာ မရှိကြောင်းနှင့် စပ်လျဉ်း၍ ကုရ်အာန်ကျမ်းမြတ်တွင် ယင်းသို့ အတိအလင်း အာယသ်တော်များ လာရှိသည့်အတွက် အထူးဂုဏ်ယူပြောဆိုခဲ့လေသည်။ ဂုဏ်ယူဖွယ်ရာလည်း ကောင်းလှပါဘိတည်း။

ဤကြောင်းကို ဗုခါရီ၊မုစ်လင်မ်၊ အစ်ဗ်နဂျရီရ်၊ အစ်ဗ်နကဆီရ်၊ စသည့်ကျမ်းကြီးများတွင် အကျယ်တဝင့် ပါရှိပေသည်။ ၊တရားရယူဖွယ်ရာအချက်များ အမြောက်အများ ပါရှိပေသည်။ ၊ကျမ်းလေးမည်စိုး၍မရေးပြီ။

**(၁) ပြစ်မှုကျူးလွန်ခဲ့သည်နှင့်အမျှပြစ်ဒဏ်ခံ။**

ဤမတရားစွပ်စွဲမှုကြီးတွင် ပါဝင်ကျူးလွန်ခဲ့သူအားလုံးတို့သည် မိမိတို့ ပါဝင်ကျူးလွန်ခဲ့သည်နှင့် အမျှ ပြစ်ဒဏ်ခံကြရမည်ဖြစ်သည်။ ဥပမာ-အချို့သည် ဤစွပ်စွဲမှုကို စတင်ဦးစီး၍ ရှေ့ဆောင်ရှေ့ရပ် ပြုခဲ့သည်။ အချို့သည် ယင်းစွပ်စွဲမှုကို ကြားရသောအခါ မစဉ်းစား မဆင်ခြင်ဘဲ သံယောင်ဖမ်း ကာ တစ်ဆင့် ➢➢

لَوْلَآ إِذْ سَمِعْتُمُوهُ ظَنَّ الْمُؤْمِنُونَ وَالْمُؤْمِنَٰتُ بِأَنفُسِهِمْ خَيْرًا وَقَالُوا هَٰذَآ إِفْكٌ مُّبِينٌ ⑫

၁၂။ ယင်းမုသားစွပ်စွဲချက်ကို အသင်တို့ကြားသိခဲ့စဉ်က 'မုအ်မင်န်' ယောကျ်ားတို့သည်လည်းကောင်း၊ 'မုအ်မင်န်' မိန်းမတို့သည်လည်းကောင်း၊ မိမိတို့အချင်းချင်းနှင့်ပက်သက်၍အဘယ်ကြောင့် ကောင်းမွန်သော ထင်မြင်ချက်ကို မထင်မြင်မယူဆခဲ့ကြသနည်း။ ထိုမှတပါး ထို 'မုအ်မင်န်' ယောကျ်ား မိန်းမတို့က *ဤသည် ထင်ရှားလှစွာသော မုသားစွပ်စွဲချက်ပင်ဖြစ်သည်ဟုအဘယ်ကြောင့်မပြောဆိုခဲ့ကြသနည်း။*[၁]

---

➤➤ ပြောဆိုခဲ့ကြသည်။ အချို့သည် ဤစွပ်စွဲချက်ကိုကြားရသည့်အခါ ဤသည် မဟုတ်မမှန် လုပ်ကြံစွပ်စွဲခြင်းမျှသာဖြစ်ကြောင်း ကန့်ကွက်ပြောဆိုရမည့် အစားနှုတ်ပိတ်၍ ဆိတ်ဆိတ်ပင်နေခဲ့ကြသည်။ သို့မဟုတ် စိတ်တွင်သို့လောသို့လော တွေးတောခဲ့ကြသည်။ ဤသို့သောသူအားလုံး၌ အပြစ်ရှိသည်။ သို့ရာတွင် အပြစ်ချင်းကား မတူပေ။ ပြစ်မှုကျူးလွန်သည်နှင့်အမျှ ခံကြရမည်ဖြစ်သည်။

㉂ **ဤစွပ်စွဲမှု၏ တရားခံ။**

ဤစွပ်စွဲမှုကို စတင်ရေးဆောင်ရွေ့ရပ် ပြုလုပ်ခဲ့သူမှာ မုနာဖစ်က်တို့၏ ခေါင်းဆောင်တမန်တော်မြတ်၏ ရန်သူ အဗ်ဒုလ္လာဟ် အစ်ဗ်နုအုဗိုင်ဟ်ဖြစ်သည်။ ၎င်းသည် ကာဖိရ်၊ မုနာဖစ်က် ဖြစ်ခဲ့သည်သာမက တမန်တော်မြတ်၏ ကြင်ရာတော်အား မဟုတ်မမှန် လုပ်ကြံပြောဆိုပြီး တမန်တော်မြတ်၏ သိက္ခာကိုချ၍ အစ္စလာမ့်ဗိမာန်ကြီးကို ဖြိုခွဲချေမှုန်းရန် ကြိုးစားခဲ့သည့်အတွက် ဤပစ္စက္ခတွင်လည်း ကြီးလေးသောပြစ်ဒဏ်ကို ခံသွားခဲ့ရချေပြီ။ နောင်တမလွန်တွင်လည်း ကြီးလေးသောပြစ်ဒဏ်ကို အမှန်ခံရဦးမည် ဖြစ်သည်။

① ဤအာယတ်တော်တွင် အလ္လာဟ်အရှင်မြတ်က မွတ်စ်လင်မ်အမျိုးသမီးနှင့် အမျိုးသားတို့အား ဆုံးမထားတော်မူသည်မှာ မွတ်စ်လင်မ်များသည် အချင်းချင်း အတွေးကောင်းတွေးကြရသည်။ အမြင်ကောင်းမြင်ကြရသည်။ အကယ်၍ အပြစ်ကင်းမဲ့သူတစ်ဦးအား သက်သေအထောက်အထား တစ်စုံတစ်ရာမရှိဘဲလျက်၊ သွားပုတ်လေလွင့်စွပ်စွဲပြောဆိုသံကြားရလျှင် မွတ်စ်လင်မ်များသည် ယင်းသို့သော သွားပုတ်လေလွင့်စကားကို လက်ခံနားထောင်၍ မနေကြရပေ။ လက်ခံနားမထောင်ရုံသာမက ကြားလျှင်ကြားခြင်း "ဤသည် မဟုတ်မမှန်၊ လုပ်ကြံစွပ်စွဲပြောဆိုမှုသာဖြစ်သည်။" ဟု အတိအလင်း ငြင်းဆိုကန့်ကွက် ပိတ်ပင်ကြရမည်။ မွတ်စ်လင်မ် အချင်းချင်း ကာကွယ်စောင့်ရှောက်ကြရမည်။ ကူညီကြရမည်။ 'မွတ်စ်လင်မ်တစ်ဦးသည် မိမိ၏ညီနောင်အား နောက်ကွယ်မှ ကူညီလျှင် အလ္လာဟ်အရှင်မြတ်သည် ထိုသူ့အား နောက်ကွယ်မှ ကူညီတော်မူသည်'ဟု တမန်တော်မြတ် မိန့်ကြားတော်မူခဲ့သည်။

ထို့ပြင်တစ်ဝ၊ သူတစ်ပါး၏ ဂုဏ်သိက္ခာကို မိမိဂုဏ်သိက္ခာနှင့် နှိုင်းစာကြည့်ရသည်။ မိမိကိုယ်တိုင် မပြစ်မှားနိုင်သော ပြစ်မှုတစ်ရပ်ကို မိမိနှင့် ဂုဏ်ရည်တူတစ်ဦး၊ သို့မဟုတ် မိမိထက်သာသူတစ်ဦးသည် အသို့လျှင် ပြစ်မှားနိုင်အံ့နည်း။ ဤတွင် ကောင်းသော စံနမူနာတစ်ခုတင်ပြအံ့။

ကြင်ရာတော် အာအေ့ရှဟ်သခင်မနှင့်ပတ်သက်၍ မတရားစွပ်စွဲမှု ဖြစ်ပေါ်လာသည့်အခါ သာဝကမကြီး အွန်မ်မိအိုင်ယူဗ်က မိမိ၏ခင်ပွန်းသည် သာဝကကြီး အဗူအိုင်ယူဗ်- အန်ဆွာရီအား အချို့က ကြင်ရာတော်➤➤

لَوْلَا جَآءُوْ عَلَيْهِ بِأَرْبَعَةِ شُهَدَآءَ ۚ فَإِذْ لَمْ يَأْتُوْا بِالشُّهَدَآءِ فَأُولَٰٓئِكَ عِنْدَ اللّٰهِ هُمُ الْكٰذِبُوْنَ ﴿١٣﴾

၁၃။ ထို(မုသားစွပ်စွဲခဲ့ကြသော)လူစုသည် အဘယ်ကြောင့် ယင်းစွပ်စွဲချက်နှင့် စပ်လျဉ်း၍ သက်သေ(၄)ယောက် တင်မပြခဲ့ကြသနည်း။ စင်စစ် ၎င်းတို့သည် သက်သေတင်မပြခဲ့ကြသောကြောင့် ၎င်းတို့သည်ပင်လျှင် အလ္လာဟ်အရှင်မြတ်အထံတော်၌ မုသာဝါဒီများ ဖြစ်ကြကုန်သတည်း။

وَلَوْلَا فَضْلُ اللّٰهِ عَلَيْكُمْ وَرَحْمَتُهٗ فِى الدُّنْيَا وَالْاٰخِرَةِ لَمَسَّكُمْ فِىْ مَآ اَفَضْتُمْ فِيْهِ عَذَابٌ عَظِيْمٌ ﴿١٤﴾

၁၄။ စင်စစ်သော်ကား အကယ်၍သာ အသင်တို့အပေါ်၌ အလ္လာဟ်အရှင်မြတ်၏ကျေးဇူးတော်နှင့် ထိုအရှင်၏ ကရုဏာတော်သည် လောကီဘဝ၌လည်းကောင်း၊ တမလွန်ဘဝ၌လည်းကောင်း၊ မရှိခဲ့လျှင် အသင်တို့ နစ်မွန်းလျှက် ရှိခဲ့ကြသောကိစ္စနှင့် စပ်လျဉ်း၍ အသင်တို့၌ အလွန်ကြီးလေးလှစွာသော *ပြစ်ဒဏ်သည် အမှန်ပင်သက်ရောက်ခဲ့ပြီး ဖြစ်ချေသည်။* ၁

➤➤ အာအေ့ရှဟ်သခင်မနှင့် ပတ်သက်၍ ဤသို့ ထိုသို့ ပြောဆိုနေကြသည်ဟု ပြောသောအခါ၊ သာဝကကြီး အဗူအိုင်ယူဗ်အန်ဆွာရီက 'ဤသည် မဟုတ်မမှန် လုပ်ကြံစွပ်စွဲခြင်းသာဖြစ်သည်။ ထိုသို့သော အပြုအမူကို သခင်မ ပြုလုပ်နိုင်ပါမည်လော' ဟုဖြေကြား–မေးလိုက်ရာ သာဝကမကြီး အွန်မ်မိအိုင်ယူဗ်က အလ္လာဟ်အရှင်မြတ်အား တိုင်တည်၍ 'အလျှင်း ပြုမည်မဟုတ်' ဟု ဖြေကြားလေသည်။ ထိုအခါ သာဝကကြီး အဗူအိုင်ယူဗ်အန်ဆွာရီက မိမိ၏ ဇနီးသည်အား 'သာဝကကြီး အဗူဗတ်ကရ်၏သမီး တမန်တော်မြတ်၏ ဇနီးကြင်ရာတော် အာအေ့ရှဟ်သခင်မသည် အသင်မထက် အဆပေါင်းများစွာ ပိုမို စင်ကြယ်သန့်ရှင်း အပြစ်ကင်းသည်'ဟု ဖြေကြားလိုက်လေသည်။ ကြည့် - အစ်ဗ်နူကဆီရ်။

ဤအာယတ်တော်တွင် မွတ်စ်လင်မ် အမျိုးသား၊ အမျိုးသမီးများသည် မိမိတို့အချင်းချင်း အဘယ်ကြောင့် အထင်ကောင်း မထင်ကြသနည်း'ဟု မိန့်ဆိုထားတော်မူခြင်းမှာ မွတ်စ်လင်မ်များသည် အုပ်စုတစ်ခုတည်းသာဖြစ်သည်။ မွတ်စ်လင်မ်များသည် ကိုယ်ခန္ဓာတစ်ခုတည်း၏ အစိတ်အပိုင်းများဖြစ်သည်။ အချင်းချင်း အညမည ဖြစ်သည်ကို ရည်ညွှန်းထားတော်မူခြင်း ဖြစ်သည်။ မွတ်စ်လင်မ်အုပ်စုကြီးမှ တစ်ဦးတစ်ယောက်ကို စော်ကားခြင်းသည် အုပ်စုတစ်ခုလုံးကို စော်ကားရာ ရောက်သည်။

(၁) ကြင်ရာတော် အာအေ့ရှဟ်သခင်မနှင့် ပတ်သက်၍ မတရားစွပ်စွဲမှုတွင် ပါဝင်မိခဲ့ကြသော မွတ်စ်လင်မ်တစ်စု၏ အပြစ်မှာ မသေးငယ်ပေ ကြီးမားလှပေသည်။ အဘယ်ကြောင့်ဆိုသော် ၎င်းတို့သည် မဟုတ်မမှန် လုပ်ကြံစွပ်စွဲမှုကို မစဉ်းစားမဆင်ခြင်ဘဲ ဖောက်သည်ချမိခဲ့ကြသည်။ ဖြစ်ရပ်မှန်ကို မိမိကိုယ်တိုင် အလျှင်းမသိဘဲလျက် သံယောင်ဖမ်းကာ ထုတ်ဖော်ပြောဆိုမိခဲ့ကြသည်။ ယင်းသို့ မဟုတ်မမှန် စွပ်စွဲပြောဆိုခြင်းခံနေရသူမှာ သာမန် အမျိုးသမီးမဟုတ်၊ စင်ကြယ်သန့်ရှင်း အပြစ်ကင်းသော အမျိုးသမီး၊ တမန်တော်မြတ်၏ကြင်ရာတော်၊ ➤➤

إِذْ تَلَقَّوْنَهُۥ بِأَلْسِنَتِكُمْ وَتَقُولُونَ بِأَفْوَاهِكُم مَّا لَيْسَ لَكُم بِهِۦ عِلْمٌ وَتَحْسَبُونَهُۥ هَيِّنًا وَهُوَ عِندَ ٱللَّهِ عَظِيمٌ ﴿١٥﴾

၁၅။ အကြင်အခါ၌ အသင်တို့သည် ယင်းကိစ္စကို မိမိတို့လျှာများဖြင့် လက်ခံ ပြောဆိုနေခဲ့ကြ၏။ ထို့ပြင် မိမိတို့ အလျှင်းမသိသော အကြောင်းကိစ္စကို မိမိတို့ နှုတ်များဖြင့် မြွက်ဆိုနေခဲ့ကြကုန်၏။ ထိုမှတပါး အသင်တို့သည် ယင်းကိစ္စကို ပေါ့ပေါ့ဆဆ သာမန် ကိစ္စဟု ထင်မှတ်နေကြကုန်၏။ အမှန်စင်စစ်မှာမူကား ယင်းကိစ္စသည် အလ္လာဟ်အရှင်မြတ် အထံတော်၌ အလွန် ကြီးလေးလှသောကိစ္စပင် ဖြစ်ချေသတည်း။

وَلَوْلَآ إِذْ سَمِعْتُمُوهُ قُلْتُم مَّا يَكُونُ لَنَآ أَن نَّتَكَلَّمَ بِهَٰذَا سُبْحَٰنَكَ هَٰذَا بُهْتَٰنٌ عَظِيمٌ ﴿١٦﴾

၁၆။ ၎င်းပြင်အသင်တို့သည် ယင်းမုသားစွပ်စွဲချက်ကို ကြားခဲ့ကြသောအခါ ''(အို-အလ္လာဟ်အရှင်မြတ်) အရှင်မြတ်သည်စင်ကြယ်သန့်ရှင်းတော်မူပါ၏။ ကျွန်ုပ်တို့သည် ဤသည်ကို (မိမိတို့နှုတ်ဖြင့်) ပြောဆိုကြရန် အလျှင်းမထိုက်။ ဤသည် ကြီးကျယ်လှစွာသော သွားပုပ်လေလွင့် *မတရားပြောဆိုချက်မျှသာဖြစ်ပေသည်*''[၁] ဟု အဘယ်ကြောင့် မပြောဆိုခဲ့ကြသနည်း။

---

➤➤ မွတ်စ်လင်မ်အပေါင်းတို့၏ မိခင်ကြီးဖြစ်ပေသည်။ ယင်းသို့သော အမျိုးသမီးကြီးတစ်ဦးအား မတရား စွပ်စွဲပြောဆိုခြင်းမှာ အဘယ်မျှအပြစ်ကြီးသည်ကို လူတိုင်းသိနိုင်ပေသည်။ သို့ပါလျက် ယင်းမွတ်စ်လင်မ်တစ်စုသည် အဆိုပါ ကြင်ရာတော် အား မတရားစွပ်စွဲမှုတွင် ပါဝင်မိခဲ့ကြပေသည်။ ထို့ပြင်တစ်ဝ ယင်းသို့ပါဝင်ခြင်းကိုပင် သာမန်ဟူ၍ ထင်မှတ်ခဲ့ကြပေသည်။ ဤကားပို၍ပင် ဆိုးဝါးပေသည်။ အကယ်၍သာ အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်နှင့် ကရုဏာတော်သာ မရှိခဲ့ပါက ယင်းမွတ်စ်လင်မ်တစ်စုသည်လည်း မုနာဖစ်က်များအလား ကိယာမတ်နေ့တွင် ကြီးလေးသော ပြစ်ဒဏ်ကို ခံကြရမည်သာဖြစ်သည်။ ယခုမူ အလ္လာဟ်အရှင်မြတ်သည် မိမိကရုဏာတော်ဖြင့် အဆိုပါ မတရားစွပ်စွဲမှုတွင် မေ့မှားပါဝင်မိခဲ့ကြသော မွတ်စ်လင်မ် သူတော်စင်များအား ဤပစ္စက္ခတွင် ဝန်ချတောင်းပန်ခွင့် ပြုတော်မူ၍ နောင်တမလွန်ဘဝတွင် ပြစ်ဒဏ်မှချမ်းသာခွင့် ပြုတော်မူလိုက်လေပြီ။ ဤကားအလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်နှင့် ကရုဏာတော်ပင်။

(၁) ဆိုလိုသည်ကား မွတ်စ်လင်မ်များသည် အချင်းချင်း အမြင်ကောင်း မြင်ကြရသည်ဖြစ်ရာ မတရားစွပ်စွဲချက်ကို ကြားလျှင် စိတ်တွင် သို့လောသို့လော၊ မကောင်းသော အတွေးအတော အလျှင်းမသက်ရောက်ရာ။ အကယ်၍ ရှိင်တွာန်၏ လှုံ့ဆော်မှုကြောင့် စိတ်တွင်းမကောင်းသော အတွေးပေါ်ပေါက်သော် နှုတ်ဖြင့်ကား၊ ထုတ်ဖော်၍ အလျှင်းမပြောရာ ဤသို့သော အခြေအမြစ်မရှိသော စကားလေစကားလွင့်ကို ကျွန်ုပ်တို့သည် မိမိတို့၏ နှုတ်လျှာများပေါ်တွင်ပင် မတင်သင့်ကြပေ။ အို- အလ္လာဟ်အရှင်မြတ်၊ အရှင်မြတ်သည် စင်ကြယ်သန့်ရှင်း➤➤

يَعِظُكُمُ اللّٰهُ اَنْ تَعُوْدُوْا لِمِثْلِهٖٓ اَبَدًا اِنْ كُنْتُمْ مُّؤْمِنِيْنَ ﴿١٧﴾

၁၇။ အကယ်၍အသင်တို့သည် 'မုအ်မင်န်'သက်ဝင်ယုံကြည်သူများ ဖြစ်ကြပါလျှင် အသင်တို့သည် ယင်းကဲ့သို့သော အပြုအမူမျိုးကို နောက်ထပ်၍ မပြုရန် အလ္လာဟ်အရှင်မြတ်သည် အသင်တို့အား ဆုံးမတော်မူလေသည်။

وَيُبَيِّنُ اللّٰهُ لَكُمُ الْاٰيٰتِ ۭ وَاللّٰهُ عَلِيْمٌ حَكِيْمٌ ﴿١٨﴾

၁၈။ ၎င်းပြင် အလ္လာဟ်အရှင်မြတ်သည် အသင်တို့အဖို့ အမိန့်ပညတ်တော်များကို ရှင်းလင်းစွာ မိန့်ကြားတော်မူပေသည်။ စင်စစ် အလ္လာဟ်အရှင်မြတ်သည် အရာခပ်သိမ်းတို့ကို အကြွင်းမဲ့ သိတော်မူသောအရှင်၊ ဆင်ခြင်တုံတရားနှင့် ပြည့်စုံတော်မူသောအရှင် ဖြစ်တော် မူပေသတည်း။

اِنَّ الَّذِيْنَ يُحِبُّوْنَ اَنْ تَشِيْعَ الْفَاحِشَةُ فِي الَّذِيْنَ اٰمَنُوْا لَهُمْ عَذَابٌ اَلِيْمٌ ۙ فِي الدُّنْيَا وَالْاٰخِرَةِ ۭ وَاللّٰهُ يَعْلَمُ وَاَنْتُمْ لَا تَعْلَمُوْنَ ﴿١٩﴾

၁၉။ ဧကန်စင်စစ် 'မုအ်မင်န်' သက်ဝင် ယုံကြည်သော သူတို့တွင် မဖွယ်မရာ ညစ်ညမ်းသောစကားပျံ့ပွားခြင်းကို နှစ်သက်လိုလားသောသူတို့၌ (ဤ) မျက်မှောက်လောကီဘဝတွင် လည်းကောင်း၊ တမလွန်ဘဝတွင်လည်းကောင်း၊ *ပြင်းပြနာကျင်ဖွယ် ပြစ်ဒဏ်သည် ရှိပေမည်၊* [၁] စင်စစ် အလ္လာဟ်အရှင်မြတ်သည် သိရှိတော်မူ၏။ အသင်တို့မူကား မသိနားမလည်ကြချေ။

---

➤➤ အပြစ်ကင်းတော်မူပါသည်။ ဤသည် အလွန်ကြီးမားသော မဟုတ်မမှန် လုပ်ကြံစွပ်စွဲမှုသာ ဖြစ်ပါသည်' ဟူ၍သာ အတိအလင်း ငြင်းပယ်သင့်ကြပေသည်။

(၁) **<u>မကောင်းသတင်း ပျံ့ပွားခြင်းကို လိုလားသူတို့သည်၊ နှစ်ဘဝစလုံးတွင် ကြီးလေးသော ပြစ်ဒဏ်ခံကြရမည်။</u>**

ပြဿနာရှင်းသွားပြီး နောက်တွင်လည်း မွတ်စ်လင်မ်တို့တွင် စက်ဆုပ်ဖွယ်ရာအမှုနှင့် စပ်လျဉ်း၍ မကောင်းသတင်း ပျံ့ပွားခြင်းကို လိုလားသောသူများသည် ကာဖိရ်များသာ ဖြစ်ကြပေသည်။ ယင်းသို့သော သူယုတ်မာများသည် ဤပစ္စက္ခဘဝတွင်လည်းကောင်း၊ နောင်တမလွန်ဘဝတွင် လည်းကောင်း နှစ်ဘဝစလုံးတွင် ကြီးမားသောပြစ်ဒဏ် အမှန်ခံကြရမည် ဖြစ်ကြောင်းကို ဤအာယတ်တော်တွင် အတိအလင်း သတိပေးထားတော်မူသည်။ သို့ဖြစ်ရာ မွတ်စ်လင်မ်များသည် ကာဖိရ်တို့၏ ခြေရာကို မလိုက်မှားမိကြရန်နှင့် ကာဖိရ်တို့၏ ကျော့ကွင်းကို မနင်းမိကြရန် အထူးသတိပြု ရှောင်ကြဉ်ကြရပေမည်။ ထာနဝီကိုမှီးသည်။

وَلَوْلَا فَضْلُ اللّٰهِ عَلَيْكُمْ وَرَحْمَتُهٗ وَاَنَّ اللّٰهَ رَءُوْفٌ رَّحِيْمٌ ۝٢٠

၂၀။ စင်စစ်သော်ကား အကယ်၍သာ အသင်တို့အပေါ်၌ အလ္လာဟ်အရှင်မြတ်၏ကျေးဇူးတော်နှင့် ထိုအရှင်မြတ်၏ ကရုဏာတော်မရှိခဲ့မူ (အမှန်ပင် အသင်တို့၌ ပြစ်ဒဏ်ကိုအဆောတလျင် သက်ရောက်စေတော်မူခဲ့ပေမည်)။ သို့ရာတွင် ဧကန်မလွဲ အလ္လာဟ်အရှင်မြတ်သည်အလွန်တရာသနားကြင်နာတော်မူထသောအရှင်၊ အလွန်တရာ ကရုဏာပြုတော်မူထသောအရှင်ဖြစ်တော်မူပေသည်။ (သို့ဖြစ်ပေရာ အသင်တို့အား တောင်းပန် ဝန်ချနိုင်ရန် အခြေအနေကို ဖန်တီး၍ပေးသနားတော်မူခဲ့ပေသည်။) [၁]

يٰۤاَيُّهَا الَّذِيْنَ اٰمَنُوْا لَا تَتَّبِعُوْا خُطُوٰتِ الشَّيْطٰنِ ؕ وَمَنْ يَّتَّبِعْ خُطُوٰتِ الشَّيْطٰنِ فَاِنَّهٗ يَاْمُرُ بِالْفَحْشَآءِ وَالْمُنْكَرِ ؕ وَلَوْلَا فَضْلُ

၂၁။ အို-'မုအ်မင်န်' သက်ဝင်ယုံကြည်သူ အပေါင်းတို့ အသင်တို့သည် ရှိုင်တွာန်မိစ္ဆာကောင်၏ ခြေရာများကို မလိုက်ကြကုန်လင့်။ စင်စစ်သော်ကား မည်သူမဆို ရှိုင်တွာန်မိစ္ဆာကောင်၏ ခြေရာများကို လိုက်ပါလျှင် ဧကန်မလွဲ ထိုရှိုင်တွာန်မိစ္ဆာကောင်သည် (ထိုသူအား) ရှက်ဖွယ်ကိစ္စနှင့်မကောင်းမှု ဒုစရိုက်ကိုသာ လုပ်ရန် ညွှန်ကြားပေမည်။

---

(၁) **အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်ကြောင့်သာ. . .**

အကယ်၍သာ မှားယွင်းခဲ့ကြသော မွတ်စ်လင်မ်တို့ပေါ်၌ အလ္လာဟ်အရှင်မြတ်၏ကျေးဇူးတော်နှင့် ကရုဏာတော် သာ မရှိခဲ့ပါမူ ၎င်းတို့အနက် မည်သူတစ်ဦးတစ်ယောက်မျှ မည်သည့်အခါ၌မျှ စင်ကြယ်သန့်ရှင်း အပြစ်ကင်း နိုင်ကြမည် မဟုတ်ပေ။

ပထမသော် မုနာဖစ်က်များပမာ ဝန်ချတောင်းပန်နိုင်ရန် အခွင့်အလမ်းကိုပင် ရရှိကြမည်မဟုတ်ပေ။

ဒုတိယသော် ဝန်ချတောင်းပန်ရန် အခွင့်အလမ်းရရှိ၍ ဝန်ချတောင်းပန်ကြသော်လည်း၊ ၎င်းတို့၏ ဝန်ချ တောင်းပန်မှုကို အလ္လာဟ်အရှင်မြတ်သည် လက်ခံတော်မူလိုမှ လက်ခံတော်မူမည်။ လက်ခံတော်မမူလိုပါက လက်ခံတော်မူမည်မဟုတ်ပေ။ အဘယ့်ကြောင့်ဆိုသော် အလ္လာဟ်အရှင်မြတ်အပေါ်၌ မည်သို့မျှတာဝန်မရှိပေ။

ယခုမူကား အလ္လာဟ်အရှင်မြတ်သည် မိမိကျေးဇူးတော်ဖြင့် မွတ်စ်လင်မ်တို့အား ဝန်ချတောင်းပန်နိုင်ရန် အခွင့်အလမ်းကို ဖန်တီးပေးတော်မူသည်သာမက ၎င်းတို့၏ ဝန်ချတောင်းပန်ခြင်းကိုလည်း လက်ခံတော်မူ၍ ၎င်းတို့အား စင်ကြယ်သန့်ရှင်း အပြစ်ကင်းစေတော်မူလေပြီ။ ဤကား အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်ပင်။

اللّٰهِ عَلَيْكُمْ وَرَحْمَتُهٗ مَا زَكٰى مِنْكُمْ
مِّنْ اَحَدٍ اَبَدًا ۙ وَّلٰكِنَّ اللّٰهَ يُزَكِّيْ
مَنْ يَّشَآءُ ۗ وَاللّٰهُ سَمِيْعٌ عَلِيْمٌ ﴿٢١﴾

စင်စစ် အကယ်၍သာ အသင်တို့အပေါ်ဝယ် အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်နှင့် ကရုဏာတော်မရှိခဲ့လျှင် အသင်တို့အနက် မည်သူတစ်ဦးတစ်ယောက်မျှ၊ မည်သည့်အခါမျှပင် (ဝန်ချတောင်းပန်၍) စင်ကြယ်သန့်ရှင်း လွတ်ကင်းခဲ့မည် မဟုတ်ပေ။ သို့ရာတွင် အလ္လာဟ်အရှင်မြတ်သည် မိမိအလိုရှိတော်မူသောသူအား (ဝန်ချတောင်းပန်ခွင့် ပြုတော်မူ၍) စင်ကြယ်သန့်ရှင်းလွတ်ကင်းစေတော်မူ၏။စင်စစ်သော်ကား အလ္လာဟ်အရှင်မြတ်သည် အရာခပ်သိမ်းတို့ကို အကြွင်းမဲ့ကြားတော်မူသောအရှင်၊ အရာခပ်သိမ်းတို့ကို အကြွင်းမဲ့သိတော်မူသောအရှင်ဖြစ်တော်မူပေသတည်း။

وَلَا يَأْتَلِ اُولُوا الْفَضْلِ مِنْكُمْ
وَالسَّعَةِ اَنْ يُّؤْتُوْٓا اُولِى الْقُرْبٰى
وَالْمَسٰكِيْنَ وَالْمُهٰجِرِيْنَ فِيْ
سَبِيْلِ اللّٰهِ ۖ وَلْيَعْفُوْا
وَلْيَصْفَحُوْا ۗ اَلَا تُحِبُّوْنَ اَنْ
يَّغْفِرَ اللّٰهُ لَكُمْ ۗ وَاللّٰهُ غَفُوْرٌ
رَّحِيْمٌ ﴿٢٢﴾

၂၂။ ၎င်းပြင် အသင်တို့အနက် ဂုဏ်အသရေနှင့် ကုံလုံကြွယ်ဝမှုရှိသောသူများသည် ဆွေရင်းမျိုးရင်းများအားလည်းကောင်း၊ သူဆင်းရဲများအားလည်းကောင်း၊ အလ္လာဟ်အရှင်မြတ်၏ လမ်းတော်၌ (မိမိတို့၏ အိုးအိမ်စည်းစိမ်တို့ကို စွန့်၍ မဒီနာမြို့သို့) ရွှေ့ပြောင်းလာခဲ့ကြသော မုဟာဂျိရ်များအားလည်းကောင်း၊ (အကူအညီ အထောက်အပံ့) မပေးကြတော့ပါဟူ၍ ကျိန်ဆိုခြင်းမပြုကြရာ။

စင်စစ် ၎င်းတို့သည် (ထိုသူတို့အား) ခွင့်လွှတ်သင့်ကြပေသည်။ ၎င်းပြင် လျစ်လျူပြုသင့်ကြပေသည်။ အသင်တို့သည် မိမိတို့အား အလ္လာဟ်အရှင်မြတ်က အပြစ်မှ ခွင့်လွှတ်ချမ်းသာ ပေးတော်မူသည်ကို မနှစ်သက် မလိုလားကြလေသလော။ စင်စစ်မှာမူကားအလ္လာဟ်အရှင်မြတ်သည်အလွန်တရာလွတ်ငြိမ်းချမ်းသာခွင့် ပေးသနားတော်မူသောအရှင် အလွန်တရာ သနားညှာတာကရုဏာ ပြုတော်မူသောအရှင် ဖြစ်တော်မူပေသတည်း။

إِنَّ الَّذِينَ يَرْمُونَ الْمُحْصَنَاتِ الْغَافِلَاتِ الْمُؤْمِنَاتِ لُعِنُوا فِي الدُّنْيَا وَالْآخِرَةِ وَلَهُمْ عَذَابٌ عَظِيمٌ ﴿٢٣﴾

၂၃။ ဧကန်စင်စစ် ကာမဂုဏ်ကိုချုပ်တည်းသော၊ ရိုးသားဖြောင့်မတ်၍ သတိမမူသော 'မုအ်မင်န်' အမျိုးသမီးများအား (မဟုတ်မမှန် မတရား)စွပ်စွဲကြကုန်သောသူတို့သည် လောကီဘဝ၌ လည်းကောင်း၊ တမလွန်ဘဝ၌လည်းကောင်း၊ကရုဏာတော်မှကင်းဝေးစေခြင်းကို ခံကြရပေမည်။ ထိုမှတပါး ၎င်းတို့၌ ကြီးလေးလှစွာသော ပြစ်ဒဏ်သည်(လည်း) ရှိပေမည်။

يَوْمَ تَشْهَدُ عَلَيْهِمْ أَلْسِنَتُهُمْ وَأَيْدِيهِمْ وَأَرْجُلُهُم بِمَا كَانُوا يَعْمَلُونَ ﴿٢٤﴾

၂၄။ အကြင်နေ့တွင်(ထိုနေ့တွင်) ထိုသူတို့၏ နှုတ်လျှာများသည်လည်းကောင်း၊ ထိုသူတို့၏ လက်များသည်လည်းကောင်း၊ ထိုသူတို့၏ ခြေထောက်များသည်လည်းကောင်း ထိုသူတို့နှင့်ဆန့်ကျင်ကာ ထိုသူတို့ ကျင့်မူခဲ့သမျှတို့ကို သက်သေခံကြပေမည်။

يَوْمَئِذٍ يُوَفِّيهِمُ اللَّهُ دِينَهُمُ الْحَقَّ وَيَعْلَمُونَ أَنَّ اللَّهَ هُوَ الْحَقُّ الْمُبِينُ ﴿٢٥﴾

၂၅။ ထိုနေ့တွင် အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့အား ၎င်းတို့နှင့်ထိုက်တန်သောအစားကို အပြည့်အဝ ပေးတော်မူပေမည်။ ထို့ပြင် ဧကန်မုချ အလ္လာဟ်အရှင်မြတ်သည် တိကျမှန်ကန်စွာ စီရင်ဆုံးဖြတ်တော်မူသောအရှင် (အကြောင်းကိစ္စများကို) ထင်ရှားစေတော်မူသောအရှင် ဖြစ်တော်မူကြောင်းကို ၎င်းတို့ သိရှိကြပေမည်။ ၁

(၁) ကြင်ရာတော် အာအ္ဓေရှဟ်သခင်မ၌ အပြစ်တစ်စုံတစ်ရာမျှမရှိကြောင်း၊ အာယတ်တော်များ ကျရောက်လာပြီးသည့် နောက်တွင်သော်မှပင် မိမိတို့၏ စွပ်စွဲမှုမှ ဝန်ချမတောင်းပန်ဘဲ စွပ်စွဲရင်းယုံကြည်ချက်အတိုင်း ထင်မှတ်ယုံကြည်နေသောသူများကို ဤအာယတ်တော်များတွင် ရည်ညွှန်းမိန့်ဆို ထားတော်မူသည်။ ထာနဝီ။

မဟုတ်မမှန် လုပ်ကြံစွပ်စွဲခြင်းသည် မည်သူ့အားပင် ဖြစ်စေကာမူ အပြစ်ကြီးပင်။ စင်ကြယ်သန့်ရှင်းအပြစ်ကင်းသော ရိုးသားဖြူစင်သော မွတ်စ်လင်မ် အမျိုးသမီးများအား မဟုတ်မမှန် လုပ်ကြံစွပ်စွဲခြင်းသည် ပို၍ပင် အပြစ်ကြီးလှသည်။ တမန်တော်၏ ကြင်ရာတော်များ အထူးသဖြင့် ကြင်ရာတော် အာအ္ဓေရှဟ်သခင်မအား မဟုတ်မမှန် လုပ်ကြံစွပ်စွဲခြင်းမှာကား အဘယ်မျှ အပြစ်ကြီးလေးမည်ကို မတွေးဝံ့စရာပင်။

ယင်းသို့စင်ကြယ်သန့်ရှင်း အပြစ်ကင်းသော မွတ်စ်လင်မ်အမျိုးသမီးများအား မဟုတ်မမှန် လုပ်ကြံစွပ်စွဲသူများသည် နှစ်ဘဝစလုံးတွင် အလ္လာဟ်အရှင်မြတ်၏ကရုဏာတော်နှင့် အဝေးကြီးဝေးကြရပေမည်၊ ➢➢

اَلْخَبِيْثٰتُ لِلْخَبِيْثِيْنَ وَالْخَبِيْثُوْنَ لِلْخَبِيْثٰتِ ۚ وَالطَّيِّبٰتُ لِلطَّيِّبِيْنَ وَالطَّيِّبُوْنَ لِلطَّيِّبٰتِ ۚ اُولٰٓئِكَ مُبَرَّءُوْنَ مِمَّا يَقُوْلُوْنَ ۗ لَهُمْ مَّغْفِرَةٌ وَّرِزْقٌ كَرِيْمٌ ﴿٢٦﴾

၂၆။ ယုတ်မာသောမိန်းမများသည် ယုတ်မာသော ယောကျာ်းများနှင့်သာထိုက်ကြပေသည်။ ထိုနည်းတူစွာ ယုတ်မာသောယောကျာ်းများမှာလည်း ယုတ်မာသော မိန်းမများနှင့် ထိုက်တန်ကြကုန်၏။ ၎င်းပြင် မွန်မြတ်သော မိန်းမများသည် မွန်မြတ်သောယောကျာ်းများနှင့်သာ ထိုက်တန်ကြပေသည်။ ထိုနည်းတူစွာ မွန်မြတ်သောယောကျာ်းများသည်လည်း မွန်မြတ်သော မိန်းမများနှင့် *ထိုက်တန်ကြကုန်၏။* ၁

➤➤ ကိယာမတ်နေ့တွင် ကြီးလေးလှသောပြစ်ဒဏ် ခံကြရပေမည်။ ကိယာမတ်နေ့တွင် ၎င်းတို့ စွပ်စွဲပြောဆိုကျင့်မှုခဲ့ကြသည်များကို ၎င်းတို့၏နှုတ်လျှာများ၊ ခြေများ၊ လက်များက ခရေစေ့တွင်းကျ သက်သေထွက်ဆိုကြပေမည်။ အလ္လာဟ်အရှင်မြတ်သည် ကိယာမတ်နေ့တွင် ၎င်းတို့အား ၎င်းတို့နှင့်ထိုက်တန်သော ပြစ်ဒဏ်ကို အပြည့်အဝ တပ်ရိုက်တော်မူမည်။ သူတစ်ပါးအား မတရား အရှက်တကွဲ အကျိုးနည်းဖြစ်စေခဲ့သော သူများသည် 'ကိုယ့်ရှူး ကိုယ်ပတ်' ဆိုသကဲ့သို့ အရှက်တကွဲ အကျိုးနည်းဖြစ်ကာ ငရဲသို့ လားကြရပေမည်။

ဤအာယတ်တော်များ ကျရောက်လာခဲ့ပြီးနောက် မည်သူမဆို ကြင်ရာတော် အာအေ့ရှာဟ်သခင်မအားသော် လည်းကောင်း၊ အခြားကြင်ရာတော်များအားသော် လည်းကောင်း မတရားစွပ်စွဲပြောဆိုသည်ရှိသော် ထိုသူသည် ကုရ်အာန်ကျမ်းမြတ်ကို လိမ်လည်သူ၊ အစ္စလာမ်ဘောင်အပြင်သို့ ထွက်သွားသူ 'ကာဖိရ်' ဖြစ်သည်ဟူ၍ အာလင်မ်ပညာရှင်ကြီးများက အတိအလင်း တညီတညွတ်တည်း ဓမ္မသတ်အဆုံးအဖြတ် ပေးထားကြသည်။

**(၁) ယုတ်မာသော မိန်းမသည် ယုတ်မာသောယောကျာ်းနှင့်သာ ထိုက်တန်သည်။**

ဆိုလိုသည်ကား၊ ယုတ်မာသော မိန်းမများသည် ယုတ်မာသော ယောကျာ်းနှင့်သာ ထိုက်တန်ကြသည်။ ယုတ်မာသော ယောကျာ်းများသည် ယုတ်မာသော မိန်းမများနှင့်သာ ထိုက်တန်ကြသည်။ ထို့အတူ ကောင်းမြတ်သော အမျိုးသမီးများသည် ကောင်းမြတ်သော အမျိုးသားများနှင့်သာ ထိုက်တန်ကြသည်။ ကောင်းမြတ်သော အမျိုးသားများသည်လည်း ကောင်းမြတ်သော အမျိုးသမီးများနှင့်သာ ထိုက်တန်ကြပေသည်။ သူတော်သူတော်ချင်း၊ မသူတော်မသူတော်ချင်း၊ ဓာတ်ချင်းသင့်ကာ ပေါင်းကြသည်မှာ သဘာဝပင်။

တမန်တော်များသည် စင်ကြယ်သန့်ရှင်း အပြစ်ကင်းသော ပုဂ္ဂိုလ်မွန်၊ ပုဂ္ဂိုလ်မြတ်များ ဖြစ်ကြပေရာ၊ ၎င်းတို့၏ ကြင်ရာတော်များသည်လည်း စင်ကြယ်သန့်ရှင်း အပြစ်ကင်းသော အမျိုးသမီးမွန် အမျိုးသမီးမြတ်များသာ ဖြစ်ကြပေသည်။ သို့အတွက် သာဝကကြီး အစ်ဗ်နုအဗ္ဗာစ်က 'မည်သည့် တမန်တော်၏ မည်သည့်ကြင်ရာတော်မှ အကျင့်ပျက်သည်မရှိ' ဟု မိန့်ဆိုခဲ့လေသည်။

ဆိုလိုသည်ကား အလ္လာဟ်အရှင်မြတ်သည် မိမိ၏တမန်တော်များ၏ အကျင့်သိက္ခာများကို ထိန်းသိမ်းတော်မူသကဲ့သို့ ယင်းတမန်တော်များ၏ ကြင်ရာတော်များ၏ အကျင့်သိက္ခာများကို ထိန်းသိမ်းတော်မူပေသည်။

ထို(မွန်မြတ်သော ယောကျာ်း-မိန်းမ)တို့မှာမူကား ၎င်း(မုနာဖစ်က်)တို့၏ ပြောဆို(စွပ်စွဲ)ချက်များမှ (လုံး၀) ကင်းရှင်းသူများပင် ဖြစ်ကြပေသည်။ ထိုသူတို့အဖို့ (အပြစ်မှ) *လွတ်ငြိမ်းချမ်းသာခွင့်သည်လည်းကောင်း၊ မွန်မြတ်လှစွာသော စားနပ်ရိက္ခာသည်လည်းကောင်း၊ ရှိပေသတည်း။* [၁]

يَٰٓأَيُّهَا ٱلَّذِينَ ءَامَنُواْ لَا تَدْخُلُواْ بُيُوتًا غَيْرَ بُيُوتِكُمْ حَتَّىٰ تَسْتَأْنِسُواْ وَتُسَلِّمُواْ عَلَىٰٓ أَهْلِهَا ۚ ذَٰلِكُمْ خَيْرٌ لَّكُمْ لَعَلَّكُمْ تَذَكَّرُونَ ﴿٢٧﴾

၂၇။ အို-'မုအ်မင်န်' သက်ဝင်ယုံကြည်သူအပေါင်းတို့၊ အသင်တို့သည် မိမိတို့အိမ်များမှတပါး အခြားအိမ်များအတွင်းသို့ (ထိုအိမ်သားများထံမှ) ခွင့်ရယူခြင်း၊ ထိုအိမ်သားများအပေါ်၌ 'စလာမ်' မေတ္တာပို့သခြင်း၊ မပြုသမျှ ကာလပတ်လုံး ဝင်ရောက်ခြင်းကို မပြုကြကုန်လင့်။ [၂] ဤ (ခွင့်ရယူခြင်းနှင့် 'စလာမ်' မေတ္တာ ပို့သခြင်းတို့သည်)ကား အသင်တို့အဖို့ အကောင်းဆုံးပင်ဖြစ်ပေသည်။ သို့မှသာလျှင် အသင်တို့သည် သတိဝီရိယ ပြုကြပေမည်။

---

**(၁) မတရားစွပ်စွဲခြင်း ခံခဲ့ရသူများအဖို့ ကောင်းချီးသတင်း၊**

မုနာဖစ်က်များသည် ကြင်ယာတော် အာအေရှာဟ်သခင်မနှင့် ပတ်သက်၍ မဟုတ်မမှန်လုပ်ကြံ၍ စွပ်စွဲပြောဆိုခဲ့ကြသော်လည်း ပတ္တမြားမှန် နွံမနစ်ဆိုသကဲ့သို့ ကြင်ယာတော်၌ တစ်စုံတရာ အစွန်းအထင်း မရှိခဲ့သည်သာမက ကြင်ယာတော်၏ ဂုဏ်သိက္ခာများ နေရောင်၊လရောင်ပမာ ထွန်းပြောင်လာခဲ့လေသည်။ နောက်ဆုံးတွင် ဤအာယတ်တော်တွင် လာရှိသည့်အတိုင်း၊ ဤပုဂ္ဂိုလ်များသည် ယင်းမုနာဖစ်က်များ စွပ်စွဲပြောဆိုသောစကားနှင့် လုံး၀ စင်ကြယ်သန့်ရှင်း အပြစ်ကင်းကြသည်။ ယင်းပုဂ္ဂိုလ်များအဖို့ ချမ်းသာခွင့်နှင့် (ဂျန္နတ်တွင်) ဂုဏ်အသရေရှိ ရိက္ခာတော်အသင့်ရှိသည်"ဟူ၍ အလ္လာဟ်အရှင်မြတ်က ကောင်းချီးသတင်း ပေးထားတော်မူလေသည်။

ဤတွင် သာဝကကြီး ဆွဖ်ဝါန်အစ်ဗ်နုမုအတ္တန် သခင်၌လည်း အဆိုပါစွပ်စွဲမှုနှင့် စပ်လျဉ်း၍ အပြစ် တစ်စုံတစ်ရာမရှိကြောင်း၊ ထို့ပြင်တစ်ဝ သာဝကကြီး ဆွဖ်ဝါန်သည်လည်း ဤအာယတ်တော်လာ ကောင်းချီးသတင်းတွင် အကျုံးဝင်သည်မှာ ထင်ရှားလှပေသည်။

**(၂) သူတပါး၏နေအိမ်အတွင်းသို့ အခွင့်မရှိမဝင်ရ။**

မိမိကိုယ်တိုင် နေထိုင်သော နေအိမ်မှတစ်ပါး၊ သူတစ်ပါး နေအိမ်အတွင်းသို့ တစ်စုံတစ်ရာ ခွင့်ပန်ကြားခြင်းမရှိဘဲ အမှုမဲ့ အမှတ်မဲ့ ဝင်မသွားရ၊ အဘယ်ကြောင့်ဆိုသော် ထိုအချိန်တွင် အိမ်၌ အိမ်သူအိမ်သားများသည် မည်သည့်အခြေအနေမှာ ရှိနေကြသည်၊ ထိုအချိန်တွင် သူတစ်ပါး အိမ်တွင်းသို့ ➤➤

فَإِن لَّمْ تَجِدُوا فِيهَا أَحَدًا فَلَا تَدْخُلُوهَا حَتَّىٰ يُؤْذَنَ لَكُمْ وَإِن قِيلَ لَكُمُ ارْجِعُوا فَارْجِعُوا هُوَ أَزْكَىٰ لَكُمْ وَاللَّهُ بِمَا تَعْمَلُونَ عَلِيمٌ ۝٢٨

၂၈။ တစ်ဖန် အကယ်၍ အသင်တို့သည် ထိုအိမ်များတွင် တစ်ဦးတစ်ယောက်ကိုမျှ မတွေ့ခဲ့ကြလျှင်၊ အသင်တို့သည် မိမိတို့၌ *အခွင့်မရရှိသမျှ ကာလ ပတ်လုံး ထိုအိမ်များအတွင်းသို့မဝင်ကြကုန်လင့်။* ၁ ၎င်းပြင် အကယ်၍ အသင်တို့အား *ပြန်ကြကုန်ဟု ပြောဆိုခဲ့လျှင်အသင်တို့သည် ပြန်ခဲ့ကြလေကုန်။* ၂ ထို(သို့ပြန်လာခြင်း)သည် အသင်တို့အဖို့ အစင်ကြယ် အမွန်မြတ်ဆုံးပင် ဖြစ်ချေသည်။ စင်စစ်မူကား အလ္လာဟ်အရှင်မြတ်သည် အသင်တို့ ကျင့်မူသမျှတို့ကို အသိတော်မူဆုံးပင် ဖြစ်တော်မူ၏။

---

➤➤ လာသည်ကို နှစ်ခြိုက်ကြသည်၊ မနှစ်ခြိုက်ကြသည်ကို မသိနိုင်ပေ။ ထို့အတွက် သူတစ်ပါးအိမ်တွင်းသို့ မဝင်မီ အသံပြု၍ ဝင်ခွင့်ပန်ကြားရမည်။ ဝင်ခွင့်ပန်ကြားရန် အကောင်းဆုံးနှင့် မင်္ဂလာအရှိဆုံးအသံမှာ 'စလာမ်' မေတ္တာ၏ အသံပင်ဖြစ်သည်။

တမန်တော်မြတ်၏ ဟဒီးဆ်ဩဝါဒတော်များတွင် တစ်ဦးတစ်ယောက်သည် သူတစ်ပါးအိမ်တွင်းသို့ ဝင်လိုသည့်အခါ သုံးကြိမ် စလာမ်မေတ္တာပို့၍ ဝင်ခွင့်ပန်ကြားရမည်။ အကယ်၍ သုံးကြိမ်တိုင်တိုင် စလာမ်မေတ္တာပို့၍ ဝင်ခွင့်ပန်ကြားပါလျက် အခွင့်မရရှိပါက ပြန်သွားရမည်ဟူ၍ လာရှိပေသည်။

ဤသည့် အဆုံးအမတော်ကို လိုက်နာကျင့်သုံးပါက အိမ်ရှင်အဖို့လည်း အလွန်ကောင်းမြတ်ပေသည်။ ဧည့်သည်အဖို့လည်း အလွန် ကောင်းမြတ်ပေသည်။ သူတစ်ပါးအိမ်သို့ ဝင်ထွက်သွားလာ လည်ပတ်ရာတွင် အလွန်တရာမျှ ယဉ်ကျေးသိမ်မွေ့ရာလည်း ရောက်ပေသည်။ ယခုအခါ မွတ်စ်လင်မ်များသည် ဤသည်အဆုံးအမတော်ကို စွန့်ပယ်ထားကြသည်။ ဝမ်းနည်းဖွယ်ပင်။ အခြား အမျိုးသားများသည် ဤသည့် အဆုံးအမတော်ကို မွတ်စ်လင်မ်များထံမှပင် သင်ယူကျင့်မူ၍ တိုးတက်ယဉ်ကျေးလျက် ရှိကြပေသည်။ အားကျဖွယ်ပင်။

**(၁) အိမ်တွင် လူမရှိက မဝင်ရ။**

အိမ်တစ်အိမ်တွင် တစ်ဦးတစ်ယောက်ကိုမျှ မတွေ့ရှိက ထိုသို့သော အိမ်အတွင်းသို့ အိမ်ရှင်၏ ခွင့်ပြုချက်မရရှိသမျှ မဝင်ရပေ။ သူတစ်ပါးအိမ်ရာတွင် အခွင့်မရှိဘဲ ဝင်ရောက်ခြယ်လှယ်ပိုင်ခွင့် မရှိ။ အခွင့်မရှိဘဲ ဝင်ရောက်ပါက ပြဿနာပေါ်နိုင်သည်။ အထင်မှားစရာ၊ စွပ်စွဲစရာဖြစ်နိုင်သည်။ ပိုင်နက်ကျူးလွန်ရာ ရောက်မည်။ သို့ရာတွင် အတိအလင်းဖြစ်စေ သို့တည်းမဟုတ် သွယ်ဝိုက်သောအားဖြင့်ဖြစ်စေ၊ ခွင့်ပြုချက်ရရှိပါက ထိုသို့သော လူမရှိသော အိမ်တွင်းသို့လည်း ဝင်နိုင်ပေသည်။

**(၂) ပြန်ဆိုက ပြန်ရန်ပင်။**

တစ်ခါတစ်ရံ ပုဂ္ဂိုလ်တစ်ဦးသည် မည်သူနှင့်မျှ မတွေ့လိုပေ။ မည်သူကိုမျှ အတွေ့မခံလိုပေ။ တစ်ခါတစ်ရံ ဧည့်သည်များကို လက်ခံ ဧည့်ခံနေပါက မိမိအလုပ်တွင် အနှောင့်အယှက် ဖြစ်တတ်သည်။ တစ်ခါတစ်ရံ လူသည် သူတစ်ပါးအား အလျှင်းမသိစေလိုသော စကားတစ်ရပ်ကို အထူးလျှို့ဝှက်စွာဖြင့် ➤➤

لَيْسَ عَلَيْكُمْ جُنَاحٌ أَنْ تَدْخُلُوا بُيُوتًا غَيْرَ مَسْكُونَةٍ فِيهَا مَتَاعٌ لَّكُمْ وَاللَّهُ يَعْلَمُ مَا تُبْدُونَ وَمَا تَكْتُمُونَ ﴿٢٩﴾

၂၉။ အသင်တို့သည် လူမနေသော အိမ်များတွင် အသင်တို့၏ (ကိုယ်ရေးကိုယ်တာ) အကျိုးကျေးဇူး ဥစ္စာပစ္စည်း တစ်စုံတစ်ရာရှိ၍ ထိုအိမ်များအတွင်းသို့ ဝင်ရောက်ခဲ့ကြသော် အသင်တို့၌ မည်သို့မျှ *အပြစ်မရှိချေ။* [၁] အမှန်သော်ကား အလ္လာဟ်အရှင်မြတ်သည် အသင်တို့ ထင်ရှားစေကြသော ကိစ္စများကိုလည်းကောင်း၊ အသင်တို့ လျှို့ဝှက်သောကိစ္စများကိုလည်းကောင်း၊ ကောင်းစွာ သိရှိတော်မူပေသတည်း။

قُلْ لِّلْمُؤْمِنِينَ يَغُضُّوا مِنْ أَبْصَارِهِمْ وَيَحْفَظُوا فُرُوجَهُمْ ذَٰلِكَ أَزْكَىٰ لَهُمْ إِنَّ اللَّهَ خَبِيرٌ بِمَا يَصْنَعُونَ ﴿٣٠﴾

၃၀။ (အို-နဗီတမန်တော်)အသင်သည် "မုအ်မင်န်" သက်ဝင်ယုံကြည်သူတို့အား *မိမိတို့၏မျက်စိများကို နှိမ့်ချထားရမည်* [၂] ဟူ၍လည်းကောင်း၊ထို့ပြင် မိမိတို့၏ အရှက်အင်္ဂါများကို ထိန်းသိမ်းကြရမည်ဟူ၍လည်းကောင်း၊ပြောကြားပါလေ။ ဤသည် ၎င်းတို့အဖို့ အစင်ကြယ်ဆုံးပင် ဖြစ်ပေသည်။ ဧကန်မလွဲ အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့ ပြုလုပ်သမျှတို့ကို ကောင်းစွာ သိရှိတော်မူသောအရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

---

➤➤ တိုင်ပင်ဆွေးနွေး နေတတ်သည်။ ထိုအချိန် ထိုအခါမျိုးတွင် လူသည် မည်သူနှင့်မျှ မတွေ့လိုပေ။ မည်သူ့ကိုမျှ အတွေ့မခံလိုပေ။ ဧည့်သည်လာမည်ကိုပင် စိုးရိမ်နေပေသည်။ ထိုအချိန် ထိုအခါမျိုးတွင် အလိုက်မသိတတ်ဘဲ၊ အားမနာတတ်ဘဲ၊ မထောက်ထားဘဲ တစ်နည်းတစ်ဖုံ မရအရ၊ ဝင်ရောက် တွေ့ဆုံခြင်းသည် သူတစ်ပါးအား တမင်စိတ်ဒုက္ခပေးရာရောက်သည်။ ယင်းသို့ အလိုက်မသိတတ်ဘဲ တစ်ဖက်သားအား စိတ်ဒုက္ခ ပေးခြင်း၊ အနှောင့် အယှက် ပြုခြင်းအားဖြင့် မေတ္တာပြယ်ကာ၊ ဆက်ဆံမှုပင် ပျက်တတ်သည်။ ထို့အတွက် ဆက်ဆံရာတွင် အလိုက်သိရာသည်၊ ထောက်ထား ရာသည်။ တွေ့ခွင့်မရက မအားလပ်၍ အခွင့်မသင့်၍သာ ဖြစ်သည်ဟု ယူဆကာ ကြည်ဖြူစွာ-ပြန်လာရုံသာရှိသည်။ စိတ်ကွက်ရန် မလိုပေ။ ဤသည် အကောင်းဆုံးနှင့် အပြစ် အကင်းဆုံးနည်းပင်။

(၁) **ဝင်ခွင့်တောင်းရန် မလိုသောဌာနများ။**

အချို့ဌာနများသည် ဤသို့ရှိ၏။ ယင်းဌာနများတွင် တစ်ဦးတစ်ယောက်မျှ၊ နေအိမ်ပမာ သီးသန့်နေသည်ဟူ၍ မရှိ၊ အတားအဆီးလည်းမရှိ၊ ဥပမာ-ဇလီကျောင်း၊ ဧည့်ဂေဟာ-စသည်များ၊ ယင်းသို့သော ဌာနများတွင် မိမိ၏အလုပ်အကိုင် သို့မဟုတ် ပစ္စည်းတစ်စုံတစ်ရာရှိနေပါက ထိုသို့သောဌာနများတွင် ဝင်ရာ၌ ဝင်ခွင့်တောင်းရန် မလိုပေ။

၃၁။ (အို-နဗီတမန်တော်) အသင်သည် 'မုအ်မင်န်' သက်ဝင်ယုံကြည်သူ အမျိုးသမီးတို့အား (ဤသို့)ပြောကြားပါလေ။ ၎င်းတို့သည်မိမိတို့မျက်စိများကို အောက်သို့ နှိမ့်၍စိုက်၍ ထားရှိကြရမည်။ [၁] ထို့ပြင် ၎င်းတို့သည်မိမိတို့၏အရှက်အင်္ဂါများကို (ကာမေသုမိစ္ဆာစာရမှ ကျူးလွန်ခြင်းမှ) ထိန်းသိမ်းကြရမည်။ ထိုမှတပါး ၎င်းတို့သည်ပေါ်၍နေတတ်သောမိမိတို့၏အလှမှတပါး ကျန်အလှအပတို့ကို မပေါ်ကြစေရ။ [၂]

وَقُلْ لِّلْمُؤْمِنٰتِ يَغْضُضْنَ مِنْ اَبْصَارِهِنَّ وَيَحْفَظْنَ فُرُوْجَهُنَّ وَلَا يُبْدِيْنَ زِيْنَتَهُنَّ اِلَّا مَا ظَهَرَ مِنْهَا وَلْيَضْرِبْنَ بِخُمُرِهِنَّ عَلٰى جُيُوْبِهِنَّ وَلَا

---

**(၂) မရိုးမသား မကြည့်ရ။**

မရိုးမသားသော ကြည့်ခြင်းသည် ကာမေသုမိစ္ဆာစာရကဲ ကျူးလွန်ရန် ပထမခြေလှမ်းပင်ဖြစ်သည်။ ဤသည့် မရိုးသားသော ကြည့်ခြင်းမှာပင် မြောက်မြားစွာသော ဒုစရိုက်မှုများ၏ တံခါးများလည်း ပွင့်လာပေသည်။ ထို့အတွက် ကုရ်အာန်ကျမ်းမြတ်သည် ဒုစရိုက်မှုများကို ပိတ်ပင်ရန်အတွက် ဤသည့် 'မျက်ပေါက်'ကိုပင် ဦးစွာ ပထမပိတ်စေသည်။ (ဝါ) မွတ်စ်လင်မ်အမျိုးသား၊ အမျိုးသမီးတို့အား မရိုးမသားသော ကြည့်ခြင်းကို ရှောင်ကြဉ်ရန်နှင့် ကာမဂုဏ် အာရုံများကို ထိန်းသိမ်းရန် အမိန့်ပေးထားလေသည်။

အကယ်၍ အမျိုးသားတစ်ဦးသည် သူစိမ်းအမျိုးသမီးတစ်ဦးအား စေတနာမပါဘဲ အမှုမဲ့အမှတ်မဲ့ မြင်မိလျှင် သို့တည်းမဟုတ်၊ အမျိုးသမီးတစ်ဦးသည် သူစိမ်းအမျိုးသား တစ်ဦးအား စေတနာမပါဘဲ အမှုမဲ့အမှတ်မဲ့ မြင်မိလျှင် ဒုတိယတစ်ဖန် ထပ်မံ၍ကြည့်လိုသော စေတနာဖြင့်မကြည့်ရ၊ အဘယ့်ကြောင့်ဆိုသော် ပထမအကြိမ် မြင်မိခြင်းတွင် စေတနာမပါချေ။ ခွင့်လွှတ်နိုင်သည်။ ဒုတိယအကြိမ် ကြည့်ရာတွင် စေတနာပါသည်၊ တမင်ကြည့်ခြင်း ဖြစ်သည်။ ခွင့်မလွှတ်နိုင်ပေ။ သို့ဖြစ်ရာ မကြည့်အပ်သည့် အစိတ်အပိုင်းများကို ကြည့်ရန်ဝေးစွ၊ ကြည့်ပိုင်သော အစိတ်အပိုင်းကိုပင် မရိုးသာသောစိတ်ထားဖြင့် မကြည့်ရပေ။

အကယ်၍ အမျိုးသား၊ အမျိုးသမီး များသည် မကြည့်သင့်၊ မကြည့်အပ်သည်များကို မကြည့်ဘဲ မျက်စိများကို အောက်သို့စိုက်ထားသည့် အလေ့အထ ပြုလုပ်ကြလျှင် စိတ်နှလုံးသားများသည် လျင်မြန်စွာ စင်ကြယ်သန့်ရှင်း အပြစ်ကင်းသွားပေမည်။ စင်ကြယ်သန့်ရှင်း အပြစ်ကင်းသည့် နှလုံးသားများတွင် မကောင်းမှု ကျူးလွန်ရန် မကောင်းသော အတွေးအခေါ်သည် အသို့လျှင် ပေါ်ပေါက်နိုင်အံ့နည်း။

**(၁) အမျိုးသမီးများလည်း မရိုးသားသောကြည့်ခြင်းမျိုး မကြည့်ရ၊ ကာယိန္ဒြေကို ထိန်းသိမ်းရမည်။**

အမျိုးသားများအား သူစိမ်းအမျိုးသမီးများကို မရိုးသားသော ကြည့်ခြင်းမျိုးဖြင့် မကြည့်ကြရန်နှင့် ကာယိန္ဒြေထိန်းသိမ်းကြရန် အမိန့်ပေးထားတော်မူသကဲ့သို့ အမျိုးသမီးများအားလည်း သူစိမ်းယောကျာ်းများကို မရိုးသားသော ကြည့်ခြင်းမျိုးဖြင့် မကြည့်ကြရန်နှင့် ကာယိန္ဒြေကို ထိန်းသိမ်းကြရန် အမိန့်ပေးထားတော်မူသည်။ အဘယ့်ကြောင့်ဆိုသော် စည်းစောင့်ရန်တာဝန်မှာ အမျိုးသား၊အမျိုးသမီး အသီးသီး၏ တာဝန်ဖြစ်သည်။ ဤသည့်သဘောကို ပေါ်လွင်ထင်ရှားစေရန်နှင့် ပိုမိုလေးနက်စေရန် အတွက် အမျိုးသားများအား လည်းကောင်း အမျိုးသမီးများအားလည်းကောင်း၊ အသီးသီး အမည်နာမဖော်ထုတ်၍ မိန့်ကြားတော်မူခြင်းဖြစ်ရာသည်။ ဃာဇီ။

يُبۡدِينَ زِينَتَهُنَّ إِلَّا لِبُعُولَتِهِنَّ
أَوۡ ءَابَآئِهِنَّ أَوۡ ءَابَآءِ بُعُولَتِهِنَّ
أَوۡ أَبۡنَآئِهِنَّ أَوۡ أَبۡنَآءِ بُعُولَتِهِنَّ
أَوۡ إِخۡوَٰنِهِنَّ أَوۡ بَنِيٓ إِخۡوَٰنِهِنَّ
أَوۡ بَنِيٓ أَخَوَٰتِهِنَّ أَوۡ نِسَآئِهِنَّ
أَوۡ مَا مَلَكَتۡ أَيۡمَٰنُهُنَّ أَوِ ٱلتَّٰبِعِينَ
غَيۡرِ أُوْلِي ٱلۡإِرۡبَةِ مِنَ ٱلرِّجَالِ
أَوِ ٱلطِّفۡلِ ٱلَّذِينَ لَمۡ يَظۡهَرُواْ
عَلَىٰ عَوۡرَٰتِ ٱلنِّسَآءِۖ

ထို့ပြင် ၎င်းတို့သည် မိမိတို့၏အပေါ်ရုံများ (ဦးခေါင်း ခြုံလွှာများ)ကို မိမိတို့၏ ရင်ဘတ်များ အပေါ်သို့ ချထားကြရမည်။ [၁]

ထိုမှတပါး ၎င်းတို့သည် မိမိတို့၏အလှကို မိမိတို့၏လင်ယောကျ်ားများ၊ သို့မဟုတ် မိမိတို့၏ဖခင်များ၊သို့မဟုတ် မိမိတို့၏လင်ယောကျ်ားများ၏ ဖခင်များ၊ သို့မဟုတ်မိမိတို့၏သားများ၊ သို့မဟုတ် မိမိတို့၏လင်ယောကျ်ားများ၏သားများ၊ သို့မဟုတ် မိမိတို့၏အစ်ကိုများ၊ မောင်များ၏သားများ၊ သို့မဟုတ် မိမိတို့၏အစ်မများ၊ ညီမများ၏သားများ၊ သို့မဟုတ် မိမိတို့၏ (သာသနာဝင်)မိန်းမချင်းများ၊ သို့တည်းမဟုတ် မိမိတို့ လက်ယာလက်များက ပိုင်ဆိုင်သော မိန်းမများ(ဝါ)ကျွန်မများ၊ သို့တည်းမဟုတ် ယောကျ်ားများအနက်မှ (မိန်းမများကို) အလိုမရှိသော (မိမိတို့)

---

② **အလှမဖော်ရ။**

'ဇီနတ်' ဟူသောပုဒ်တွင် သဘာဝ ပင်ကိုယ်အလှနှင့် ဝတ်စားဆင်ယင် ခြယ်လှယ်ဖန်တီးထားသော အလှများအားလုံး အကျုံးဝင်သည်။ အမျိုးသမီးများသည် မိမိတို့၏ သဘာဝပင်ကိုယ်အလှနှင့် ဝတ်စားဆင်ယင် ခြယ်လှယ်ဖန်တီး ထားသောအလှ မည်သည့်အလှကိုမျှ ဤအာယတ်တော်တွင်ပါရှိသည့် 'မဟ်ရမ်' များမှတစ်ပါး မည်သူ၏ရှေ့တွင်မျှ မဖော်ကြရ။ သို့ရာတွင် အချို့အစိတ်အပိုင်းများကိုမူ ဤပညတ်တော်မှ ခြွင်းချန်ထားတော်မူသည်။

① **ရင်သားကို ဖုံးအုပ်ထား။**

အမျိုးသမီးတို့၏ သဘာဝပင်ကိုယ်အလှများတွင် အထူးထင်ရှားသော အလှတစ်ခုမှာ ရင်သား မို့မောက်မှုပင် ဖြစ်သည်။ သို့အတွက် ယင်းသည့်ရင်ကို အထူးတလည်ဖုံးအုပ်ထားရန် အမိန့်ပေးထားတော်မူခြင်း ဖြစ်သည်။

အရဗ်အမိုက်ခေတ်တွင် အမျိုးသမီးများသည် ဦးခေါင်းရုံသောခြုံလွှာကို ဦးခေါင်းရုံပြီး အဝတ်၏ အစွန်းနှစ်ဘက်ကို ကျောဘက်သို့ ချထားလေ့ရှိကြသည်။ ဤသို့ဖြင့် ၎င်းတို့၏ ရင်များသည် ပေါ်နေခဲ့ပေသည်။ (ရင်သားကို တစ်နည်းတစ်ဖုံ ပေါ်လွင်စေခြင်းမှာ ကာမသေုမိစ္ဆာစာရမှုကို နှိုးဆွပေးခြင်းပင်ဖြစ်သည်။ သို့အတွက် ကုရ်အာန် ကျမ်းမြတ်က အမျိုးသမီးများသည် မိမိတို့၏ ဦးခေါင်းခြုံ လွှာများကို ဦးခေါင်းပေါ်မှ တွဲလျားဆွဲလာပြီး ရင်ဘတ်ပေါ်၌ ချထားရမည်ဟု အမိန့်ပေးထားခြင်းဖြစ်သည်။ ဤသို့ဖြင့် အမျိုးသမီးများ၏ ဦးခေါင်း၊ နား၊ လည်ကုပ်၊ လည်ပင်းနှင့် ရင်အုံများသည် အထူးတလည် လုံခြုံသွားပေမည်။

وَلَا يَضْرِبْنَ بِأَرْجُلِهِنَّ لِيُعْلَمَ مَا يُخْفِينَ مِن زِينَتِهِنَّ وَتُوبُوا إِلَى اللَّهِ جَمِيعًا أَيُّهَ الْمُؤْمِنُونَ لَعَلَّكُمْ تُفْلِحُونَ ﴿٣١﴾

လက်အောက်ခံများ သို့မဟုတ် မိန်းမများ၏ အတွင်းရေး လျှို့ဝှက်ချက်များကို မသိ နားမလည်ကြသေးသော၊ ကလေးသူငယ်များ ရှေ့မှတပါး အခြားမည်သူ၏ရှေ့၌မျှ မဖော်ကြရ။ ၁

ထိုမှတပါး ၎င်းတို့သည် မိမိတို့လျှို့ဝှက်ထားကြသောတန်ဆာများကို (သူတစ်ပါးတို့) သိရှိရန် မိမိတို့၏ခြေများကို ဆောင့်၍ မနင်းကြရ။ ထို့ပြင် အို-'မုအ်မင်န်' သက်ဝင် ယုံကြည်သူအပေါင်းတို့၊ အောင်မြင်မှုရရှိကြအံ့သောငှာ အသင်တို့အားလုံးတို့သည် အလ္လာဟ်အရှင်မြတ်၏ ရှေ့တော်မှောက်ဝယ် ဝန်ချ တောင်းပန်ကြလေကုန်။

---

① <u>အမျိုးသမီးများသည် မျက်နှာ၊ လက်ဖဝါးနှင့် ခြေဖဝါးများ အထူးဖုံးကွယ်ထားရန် မလိုသော ပုဂ္ဂိုလ်များ</u>

အထက်တွင် "ဇီနတ်"ကို ဖုံးကွယ်ထားရန် အမိန့်တော်တွင် အချို့အစိတ်အပိုင်းများ (ဝါ) မျက်နှာ၊ လက်ဖဝါး၊ ခြေဖဝါးများကို ခြွင်းချန်ထားတော်မူသည်။ ယခု ဤအာယတ်တော်တွင် ခြွင်းချန်ထားတော်မူသည့် ယင်းအစိတ်အပိုင်းများကို အထူးဖုံးကွယ်ထားရန် မလိုသော အချို့သားချင်းများနှင့် အချို့ပုဂ္ဂိုလ်များကို မိန့်ဆိုထားတော်မူသည်။

အမျိုးသမီးများ မျက်နှာ၊ လက်ဖဝါး၊ ခြေဖဝါး အထူးဖုံးကွယ်ထားရန် မလိုသော ပုဂ္ဂိုလ်များကား ဆက်လက် ဖော်ပြပါအတိုင်းဖြစ်သည်။

(၁) မိမိတို့၏ လင်ယောကျ်ားများ၊
(၂) မိမိတို့၏ အဘများ၊
(၃) မိမိတို့၏ လင်ယောကျ်ားများ၏အဘများ၊
(၄) မိမိတို့၏သားများ၊
(၅) မိမိတို့၏ လင်ယောကျ်ားများ၏သားများ
(၆) မိမိတို့၏ ( မိတူဘတူ၊ မိတူဘကွဲ၊ ဘတူမိကွဲ) အစ်ကိုများ၊ မောင်များ၊ (ဤတွင် ကြာကြာ ဘကြီး-ဘထွေး၊ မာမူ-ဦးကြီး၊ ဦးလေးတို့၏ သားများ မပါဝင်ချေ။)
(၇) အထက်ဖော်ပြပါ မိမိတို့၏ အစ်ကိုများ၊မောင်များ၏ သားများ၊ (ဝါ-တူအရင်းများ)
(၈) မိမိတို့၏ (မိတူဘတူ၊ မိတူဘကွဲ၊ ဘတူမိကွဲ) အစ်မများ၊ ညီမများ၏ သားများ၊ (ဤတွင် ကြာကြာနှင့် ခါလာတို့၏ သမီးများ၏ သားများမပါဝင်ချေ။)
(၉) မိမိတို့နှင့် ဘာသာတူအမျိုးသမီးများ၊ (ဤတွင်ဘာသာခြား အမျိုးသမီးများ မပါဝင်ချေ။) ➤➤

وَأَنكِحُوا الْأَيَامَىٰ مِنكُمْ وَالصَّالِحِينَ مِنْ عِبَادِكُمْ وَإِمَائِكُمْ ۚ إِن يَكُونُوا فُقَرَاءَ

၃၂။ ထို့ပြင်အသင်တို့သည် မိမိတို့အနက် *ကြင်ဖော်ကြင်ဖက်မရှိသော ယောကျာ်း မိန်းမတို့အားလည်းကောင်း၊* [၁] မိမိတို့၏ ကျွန်-ကျွန်မများအနက် (ထိမ်းမြားရန်)*အရည်အချင်းနှင့်ပြည့်စုံကြသော ကျွန်-ကျွန်မများအားလည်းကောင်း၊* [၂]ထိမ်းမြား၍ပေးကြလေကုန်။

---

➤➤(၁၀) မိမိတို့ကျွန်မများ၊ (ယင်းကျွန်မများသည် မွတ်စ်လင်မ်ဖြစ်စေ၊ ကာဖိရ်ဖြစ်စေ၊ မထူးပေ၊ (ဤတွင် ကျွန်ယောကျာ်းများ မပါဝင်ချေ။)

(၁၁) အာရုံများပျက်စီး၍ အမျိုးသမီးများဘက်သို့ ကာမဂုဏ်၊ မစိတ် အလျှင်းမရှိသော၊ စားသောက်ရန် အတွက်သာ ကပ်ယပ်နေသော အူတူတူ၊ အတတ၊ ရူးတူးတူး၊ ပေါတောတော လူစားများ ဤအာယတ်တော်တွင် “ကပ်ယပ်နေသူများ” ဟူ၍ သုံးနှုန်းထားတော်မူခြင်းမှာ ထိုခေတ် ထိုအခါတွင် ထိုသို့သောသူများမှာ ထိုသို့ပင် ဖြစ်ခဲ့ကြသည်။ ဤတွင် ကာမဂုဏ် အာရုံပျက်စီးမှု (မ)စိတ် မရှိမှုသည် အဓိကဖြစ်သည်။ ကပ်ယပ်နေမှုသည် အဓိကမဟုတ်ပေ။

(၁၂) အမျိုးသမီးများ၏ အတွင်းရေးများကို မသိသေးသော (ဝါ) အသက်ငယ်ရွယ်သည့်အတွက် ကာမဂုဏ်အကြောင်းကို မသိနားမလည်သေးသော ယောကျာ်းကလေးများ (ဤတွင် အရွယ်ရောက်ခါနီးဆဲဆဲ ဖြစ်သော ယောကျာ်းကလေးများ မပါဝင်ချေ။) ထာနဝီကိုမှီးသည်။

**မှတ်ချက်။**

(က) အစ်ကို၊ မောင်၊ အစ်မ၊ ညီမ များတွင် နို့စို့ဘက်များလည်း အကျုံးဝင်သည်။ (ခ)အဘများတွင် ဒါဒါ၊ နာနာ၊ အဘဘက်မှ ဘိုး၊ဘေး၊ အမိဘက်မှ ဘိုး၊ ဘေးများလည်း အကျုံးဝင်သည်။ (ဂ) သားများတွင် မြေးမြစ်များလည်းအကျုံးဝင်သည်။ (ဃ) အမျိုးသမီးများအဖို့ ၎င်းတို့၏ ကြာကြာ၊ မာမူ၊ ဘကြီး၊ ဘထွေး၊ ဦးရီး၊ ဦးလေး၊ လည်း ‘မဟ်ရမ်’ များတွင် ပါဝင်ကြသည်။ မာဂျိဒီ

**သတိပြုဖွယ်။**

ယခုခေတ်တွင် လူတို့၏အကျင့် လွန်စွာပျက်ပြားနေသည့်အတွက် အချို့ဓမ္မသတ်ရှင်များက နို့စို့မှုဖြင့်တော်စပ်သော ဆွေမျိုးများနှင့်သော်လည်းကောင်း၊ ထိမ်းမြားမှုဖြင့် တော်စပ်သော ဆွေမျိုးများနှင့်သော် လည်းကောင်း၊ နှစ်ကိုယ်ထီးတည်း မနေအပ်ဟု တားမြစ်ကြသည်။ ထာနဝီ။

ဤအကြောင်းနှင့်စပ်လျဉ်း၍ အသေးစိတ် ဓမ္မသတ်များကို ထာနဝီသခင်၏ တဖ်စီရ်ကျမ်းတွင် တွေ့ရှိရသည်။ ကျမ်းလေးမည်စိုး၍မရေးပြီ။

**၁ အခါအခွင့်သင့်က ထိမ်းမြားရေး အမြန်ဆောင်ရွက်ပေး။**

အထက်တွင် အရှက်ကင်းမဲ့မှု ကာယိန္ဒြေကင်းမဲ့မှု၊ မဖွယ်ရာမှု၊ ယုတ်မာညစ်ညမ်းမှုနှင့် ကာမေ သုမိစ္ဆာစာရမှု စသည့်ဒုစရိုက်မှုများ မဖြစ်ပေါ်စေရန်အတွက် သူတစ်ပါးအိမ်သို့ သွားသည့်အခါ ဝင်ခွင့်တောင်းရမည့် အကြောင်း၊ သူစိမ်းမိန်းမများအား တွေ့မြင်သည့်အခါ စူးစိုက်၍မကြည့်ဘဲ မျက်စိများ (မျက်နှာများ)ကို အောက်စိုက် လွှဲဖယ်ထားရမည့်အကြောင်း၊ ‘စတ္တရ်’ လုံ့ဝ ဖုံးအုပ်ထားရမည့် အစိတ်အပိုင်းများကို အမြဲတစေ ဖုံးအုပ်ထားရမည့် အကြောင်းများကို မိန့်ဆိုထားတော်မူသည်။ ➤➤

➤➤ ဤအာယတ်တော်တွင် ဇနီးမိန်းမ မရှိသောယောကျ်ားများ၊ လင်ခင်ပွန်းမရှိသော မိန်းမများ၊ ထိမ်းမြားခြင်း အလျှင်းမပြုရသေးသော အပျိုလူပျိုများ၊ ထိမ်းမြားပြီးနောက် လင်ခန်းမယားခန်း ပြတ်စဲ၍သော် လည်းကောင်း၊ ဇနီးမောင်နှံနှစ်ဦးအနက် တစ်ဦးဦး သေဆုံး၍သော်လည်းကောင်း၊ လင်ကွာ၊ မယားကွာများ၊ မုဆိုးဖို၊ မုဆိုးမများအား အခါအခွင့် အကြောင်းသင့်က နှောင့်နှေးခြင်းမရှိစေဘဲ ဆောလျင်စွာ ထိမ်းမြားပေးရမည့် ကြောင်း၊ မိန့်ဆိုထားတော်မူသည်။

တမန်တော်မြတ်က သာ၀ကကြီး အလီသခင်အား၊ အို-အလီ၊ သုံးခုသော အလုပ်တွင် နှောင့်နှေးခြင်း မရှိစေရ။

(၁) ဖရသ်ွဆွလာတ်၊ အချိန်ကျရောက်သည့်အခါ၊

(၂) ဂျနာဇာဟ် အသုဘ အသင့်ဖြစ်သည့်အခါ၊

(၃) မုဆိုးမ၊ ဂုဏ်ရည်တူ၊ စုံဘက်ရရှိသောအခါဟု မိန့်ကြားတော်မူခဲ့လေသည်။

ယခုခေတ်တွင် အချို့တိုင်းပြည်များ၌ မုဆိုးမများနှင့် ထိမ်းမြားခြင်းကို စက်ဆုပ်ရွံရှာကြသည်။ ရှောင်ကြဉ်ကြသည်။ ဤသည် အစ္စလာမ်နှင့် ဖြောင့်ဖြောင့်ကြီး ဆန့်ကျင်သည်။

**မဗ္ဗသတ်။**

အချို့ အာလင်မ်ပညာရှင်များက ဤအာယတ်တော်လာ အမိန့်ပညတ်တော်သည် 'ဝါဂျိဗ်' တာဝန် ဖြစ်သည် ဟူ၍ပင်ဆိုကြသည်။ ဤတွင် ထိမ်းမြားခြင်းနှင့် စပ်လျဉ်း၍ တမန်တော်မြတ်၏အချို့ ဟဒီဒတော်များကို ရေးသားဖော်ပြလိုပေသည်။

> ထိမ်းမြားခြင်းသည် ကျွန်ုပ်၏ စွန္နတ်လမ်းစဉ်ဖြစ်သည်။ သို့ဖြစ်ရာ အကြင်သူသည် ကျွန်ုပ်၏ လမ်းစဉ်ကို သွေဖည်ကျော်ခိုင်းသော် ထိုသူသည် ကျွန်ုပ်(၏ အုပ်စုထဲ)မှ မဟုတ်ပေ။ မစ်ရှ်ကာတ်။
>
> အို-လူပျိုများ၊ အသင်တို့အနက် ထိမ်းမြားခြင်း ပြုနိုင်စွမ်းသူသည် ထိမ်းမြားရမည်။ အဘယ်ကြောင့်ဆိုသော်၊ ထိမ်းမြားမှုသည် မျက်စိအောက်သို့ အလွန်စိုက်စေသည်။ အရှက်ကို အလွန်ထိန်းသိမ်းသည်။ ထိမ်းမြားခြင်း မပြုစွမ်းနိုင်သူသည် ဆွိယာမ် ဥပုသ်ဆောက်တည်ရမည်။ အဘယ်ကြောင့်ဆိုရသော် ဥပုသ်ဆောက်တည်မှုသည် ထိုသူအဖို့ သင်းရာရောက်သည်။ အစ်ဗ်နုကဆီရ်။
>
> အကြင်သူသည် ထိမ်းမြားအံ့၊ ထိုသူသည် အီမာန်၏ ထက်ဝက်ကို ပြည့်စုံစေပြီ ဖြစ်အံ့၊ သို့ဖြစ်ရာ ထိုသူသည် ကျန်ထက်ဝက်နှင့် စပ်လျဉ်း၍ အလ္လာဟ် အရှင်မြတ်အား ကြောက်ရပေမည်။

## ⑵ အခါအခွင့်အကြောင်းသင့်က ကျေးကျွန်များကိုလည်း ထိမ်းမြားပေးရမည်။

အထက်တွင် အခါအခွင့် အကြောင်းသင့်က ကျေးကျွန်မဟုတ်သော လွပ်လပ်သော အမျိုးသား၊ အမျိုးသမီးတို့အား ထိမ်းမြားပေးရမည့် အကြောင်း မိန့်ဆိုထားတော်မူသည်။

ယခုဆက်လက်၍ မိမိတို့လက်ဝယ် ရောက်ရှိနေသော ကျေးကျွန်များကိုလည်း အကယ်၍ ယင်းကျေးကျွန်များသည် ဇနီးမောင်နှံတို့ လိုက်နာ စောင့်စည်းအပ်သည့် တာဝန်များကို ထမ်းဆောင်နိုင်စွမ်းရှိကြပါက၊ (ထိမ်းမြားပြီးနောက်၊ မိမိတို့၏ သခင်များ၏ တာဝန်ဝတ္တရားများကို မလစ်ဟင်းကြပါက) ထိမ်းမြားပေးကြရမည့်အကြောင်း မိန့်ဆိုထားတော်မူသည်။ ကြည့်-အွတ်ဆ်မာနီ။ ➤➤

يُغْنِهِمُ اللّٰهُ مِنْ فَضْلِهٖ ؕ وَاللّٰهُ وَاسِعٌ عَلِيْمٌ ﴿٣٢﴾

အကယ်၍ ၎င်းတို့သည် သူဆင်းရဲများ ဖြစ်ကြလျှင် အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့အား မိမိ *ကျေးဇူးတော်နှင့် ကြွယ်ဝချမ်းသာစေတော်မူမည်။* [၁] စင်စစ်မူကား အလ္လာဟ်အရှင်မြတ်သည် ကျယ်ဝန်းစွာ ချီးမြှင့်ပေးသနားတော်မူသောအရှင်၊ အရာခပ်သိမ်းတို့ကို အကြွင်းမဲ့ သိတော်မူသောအရှင်၊ ဖြစ်တော်မူ၏။

وَلْيَسْتَعْفِفِ الَّذِيْنَ لَا يَجِدُوْنَ نِكَاحًا حَتّٰى يُغْنِيَهُمُ اللّٰهُ مِنْ فَضْلِهٖ ؕ وَالَّذِيْنَ يَبْتَغُوْنَ الْكِتٰبَ مِمَّا مَلَكَتْ اَيْمَانُكُمْ

၃၃။ သို့ရာတွင် ထိမ်းမြားရန်အလို့ငှာ (စားရိတ်ငွေကြေး) မရှိကြသောသူတို့မူကား အလ္လာဟ်အရှင်မြတ်သည် မိမိ၏ကျေးဇူးတော်ဖြင့် ၎င်းတို့အား ကုံလုံကြွယ်ဝစေတော်မူသည်အထိ (မိမိတို့၏)ကာယိန္ဒြေကို *စောင့်စည်း၍ နေကြရမည်။* [၂] ထို့ပြင် အသင်တို့၏ ကျေးကျွန်များအနက် အကြင်သူတို့သည် (ကျွန်ဘဝမှ လွတ်မြောက်ရန်)ကတိစာချုပ်ကို ချုပ်ဆိုလိုကြ၏။

---

➤➤ လွတ်လပ်သူများတွင် ကာမဂုဏ်အာရုံစိတ်ရှိသကဲ့သို့ ကျေးကျွန်များတွင်လည်း ကာမဂုဏ်အာရုံစိတ်ရှိသည်သာဖြစ်သည်။ သို့ဖြစ်ရာ သခင်များသည် မိမိတို့၏ ကျေးကျွန်များအား ထိမ်းမြားပေးလိုက်ခြင်းဖြင့် မိမိတို့အားပြုစုရာတွင် နည်းများမဆို တာဝန်ပျက်ကွက်ကောင်း ပျက်ကွက်မည်ဟူသော စိုးရိမ်မှုကိုအကြောင်းပြု၍၊ မိမိတို့၏ ကျေးကျွန်များအား ထိမ်းမြားခြင်းကို မတားဆီးသင့်ကြပေ။ အခါအခွင့် အကြောင်းသင့်က၊ ကိုယ်ချင်းစာနာ၍ ထိမ်းမြားပေးသင့် ကြပေသည်။ မိမိ၏ အကျိုးကိုသာ မကြည့်ရာ၊ သူတစ်ပါး၏ အကျိုးကိုလည်း ကြည့်ရာသည်။

(၁) **ဆင်းရဲမှုသည် ထိမ်းမြားမှုအတွက် အဟန့်အတားမဖြစ်ရာ။**

လွတ်လပ်သူများတွင် ထိမ်းမြားရန် စကားဆိုသောသူ၌ ဥစ္စာပစ္စည်း ရှာဖွေနိုင်စွမ်းရှိက၊ သားမယားကို သားမှတ်မှတ်၊ မယားမှတ်မှတ် ပြုစုနိုင်စွမ်းရှိက ထိုသို့သော သူတစ်ဦး၏ လက်ရှိဆင်းရဲနွမ်းပါးမှုကို ထိမ်းမြားမှုအတွက် အဟန့်အတားဟူ၍ မယူဆရ။ အဘယ်ကြောင့်ဆိုသော် အကယ်၍ ထိမ်းမြားရန် စကားဆိုလာသူများသည် ယခုလက်ရှိ အခြေအနေတွင် ဆင်းရဲနွမ်းပါးသူများ ဖြစ်နေကြသော်လည်း အလ္လာဟ်အရှင်မြတ်သည် အလိုတော်ရှိပါက ၎င်းတို့အား မိမိ၏ ကျေးဇူးတော်ဖြင့် ကုံလုံကြွယ်ဝစေတော် မူမည်ဖြစ်သည်။

သို့ဖြစ်ရာ ဆင်းရဲနွမ်းပါးမှုကိုလည်း ထိမ်းမြားမှုအတွက် အဟန့်အတားဟူ၍ မယူဆရ၊ ထို့အတူ ထိမ်းမြားမှုကိုလည်း ကုံလုံကြွယ်ဝမှုအတွက် အဟန့်အတားဟူ၍ မယူဆရ၊ ချမ်းသာကြွယ်ဝမှု၊ ဆင်းရဲနွမ်းပါးမှုများသည်လည်း အလ္လာဟ်အရှင်မြတ်၏ အလိုတော်နှင့် ဆက်စပ်လျက်ရှိပေသည်။ ကြည့်-ကုရ်အာန် (၉း၂၈)။

တစ်ဦးတစ်ယောက်နှင့် ပတ်သက်၍ အလ္လာဟ်အရှင်မြတ်သည် ဆင်းရဲမှုကို အလိုတော်ရှိပါက ထိုသူသည် မထိမ်းမြားဘဲနေလျက်နှင့်လည်း ဆင်းရဲနွမ်းပါး၍ နေမည်သာဖြစ်သည်။ တစ်ဦးတစ်ယောက်နှင့် ➤➤

فَكَاتِبُوهُمْ إِنْ عَلِمْتُمْ فِيهِمْ خَيْرًا ۖ وَآتُوهُم مِّن مَّالِ اللَّهِ الَّذِي آتَاكُمْ ۚ وَلَا تُكْرِهُوا فَتَيَاتِكُمْ عَلَى الْبِغَاءِ إِنْ أَرَدْنَ تَحَصُّنًا لِّتَبْتَغُوا عَرَضَ الْحَيَاةِ الدُّنْيَا ۚ وَمَن يُكْرِههُّنَّ فَإِنَّ اللَّهَ مِن بَعْدِ إِكْرَاهِهِنَّ غَفُورٌ رَّحِيمٌ ﴿٣٣﴾

အကယ်၍အသင်တို့သည် ထိုသူတို့၌ ကောင်းကျိုးတစ်စုံတစ်ရာကို တွေ့ရှိခဲ့ကြလျှင် ၎င်းတို့နှင့် ကတိစာချုပ်ကို ချုပ်ဆိုကြလေကုန်။ ထို့မှတပါး အသင်တို့သည် ၎င်းတို့အား အလ္လာဟ်အရှင်မြတ်၏ အကြင် ပစ္စည်းအနက်မှလည်း ပေးကမ်းကြလေကုန်။ ထိုအရှင်မြတ်သည် (ယင်းပစ္စည်းကို) အသင်တို့အား ချီးမြှင့်ထားတော်မူ၏။ ထို့ပြင် အသင်တို့သည် မိမိတို့၏ ကျွန်မများအား (အထူးသဖြင့်) ၎င်းတို့သည် ကာယိန္ဒြေစောင့်စည်းရန် လိုလားကြလျှင် အသင်တို့ မျက်မှောက်လောကီ ဘဝ၏ပစ္စည်းဥစ္စာရရှိအံ့သောငှာ (ထိုကျွန်မများအား) ပြည့်တန်ဆာလုပ်ငန်း ပြုလုပ်ကြရန်အတင်းအကျပ် မပြုကြကုန်လင့်။ စင်စစ်သော်ကား မည်သူမဆို၎င်းတို့အား အတင်းအကျပ် ပြုစေခဲ့သည်ရှိသော် ဧကန်မလွဲ အလ္လာဟ်အရှင်မြတ်သည် ထိုကျွန်မများ အတင်းအကျပ်ပြုစေခြင်းကို ခံကြရပြီးနောက် အလွန်တရာ လွတ်ငြိမ်းချမ်းသာခွင့် ပေးတော်မူသောအရှင်၊ အလွန်တရာ သနားကြင်နာ ညှာတာတော်မူသောအရှင် ဖြစ်တော်မူ၏။

➤➤ ပတ်သက်၍ ထိုအရှင်မြတ်သည် ချမ်းသာကြွယ်ဝမှုကို အလိုတော်ရှိပါက ထိုသူသည် ထိမ်းမြားငြားသော်လည်း ချမ်းသာကြွယ်ဝ၍ နေမည်သာဖြစ်သည်။ (မထိမ်းမြားမီ ဆင်းရဲနွမ်းပါးပြီး၊ ထိမ်းမြားပြီးနောက် ချမ်းသာကြွယ်ဝ လာသူများရှိသကဲ့သို့ မထိမ်းမြားမီ ချမ်းသာကြွယ်ဝပြီး၊ ထိမ်းမြားပြီးနောက်၊ ဆင်းရဲနွမ်းပါးသွားသူများလည်း ရှိကြပေသည်။)

## (၂) အခြေအနေအရ မထိမ်းမြားနိုင်သေးပါက ကာယိန္ဒြေကို ထိန်းသိမ်းထားရမည်။

အချို့ပုဂ္ဂိုလ်များသည် မိမိတို့၏ လက်ရှိအခြေအနေအရ ဆင်းရဲနွမ်းပါးလွန်းလှသဖြင့် ထိမ်းမြားနိုင်ရန် အခြေအနေမရှိပါက မဟ်ရ်- ကုန်ကျစားရိတ်ပေးရန် မစွမ်းပါက အလ္လာဟ်အရှင်မြတ်က မိမိတို့အား ထိမ်းမြားနိုင်ရန် အခြေအနေများကို ဖန်တီးပေးလာတော်မူသည်အထိ မိမိတို့၏ စိတ်များကို ချုပ်၍ထားကြရမည်။ ကာယိန္ဒြေကို ထိန်းသိမ်းထားကြရမည်။ စင်ကြယ်သန့်ရှင်း အပြစ်ကင်းစွာ နေထိုင်ကြရမည်။ယင်းသို့ မိမိတို့၏စိတ်များကို ချုပ်တည်းပြီး ကာယိန္ဒြေကို ထိန်းသိမ်းကာ စင်ကြယ် သန့်ရှင်း အပြစ်ကင်းစွာ နေထိုင်ကြပါက၊ ယင်းသည့် အကျိုးဖြင့် အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့အား မကြာမီကာလအတွင်းမှာပင် ထိမ်းမြားနိုင်ရန် အကြောင်းတရားများကို ဖန်တီးပေးတော်မူပေမည်။

وَلَقَدْ اَنْزَلْنَآ اِلَيْكُمْ اٰيٰتٍ مُّبَيِّنٰتٍ وَّمَثَلًا مِّنَ الَّذِيْنَ خَلَوْا مِنْ قَبْلِكُمْ وَمَوْعِظَةً لِّلْمُتَّقِيْنَ ۝٣٤

၃၄။ ထို့ပြင် စင်စစ်ဧကန် ငါအရှင်မြတ်သည် အသင်တို့ထံသို့ထင်ရှားလှစွာသော အမိန့်ပညတ်တော်များကိုလည်းကောင်း၊ အသင်တို့အလျင် လွန်လေပြီးသော ရှေးသူဟောင်းတို့၏ အလားတူ အတ္ထုပ္ပတ္တိများကို လည်းကောင်း၊ သူမွန်သူမြတ်တို့အကျိုးငှာ ဆုံးမဩဝါဒကိုလည်းကောင်း၊ ချပေးသနားတော်မူခဲ့ပေသတည်း။

اَللّٰهُ نُوْرُ السَّمٰوٰتِ وَالْاَرْضِ ۭ مَثَلُ نُوْرِهٖ كَمِشْكٰوةٍ فِيْهَا مِصْبَاحٌ ۭ اَلْمِصْبَاحُ فِيْ زُجَاجَةٍ ۭ اَلزُّجَاجَةُ كَاَنَّهَا كَوْكَبٌ دُرِّيٌّ يُّوْقَدُ مِنْ

၃၅။ အလ္လာဟ်အရှင်မြတ်သည် မိုးကောင်းကင်များနှင့် ပထဝီမြေ၏ ရောင်ခြည်တော် ဖြစ်တော်မူ၏။ (တစ်နည်း အလ္လာဟ်အရှင်မြတ်သည် ပထဝီမြေနှင့် မိုးကောင်းကင်များတွင်ရှိသူတို့အား *ဓမ္မရောင်ခြည်ပေးတော်မူသောအရှင်* [၁] ဖြစ်တော်မူသည်)။ ထိုအရှင်မြတ်၏ (ဓမ္မ)ရောင်ခြည်တော်၏ ဥပမာကား နံရံတွင်းရှိ အကြင်ဂူလိုဏ်နှင့် အလားတူပေသည်။ ထိုဂူလိုဏ်အတွင်း၌ဝယ် ဆီမီးတစ်ခုရှိ၏။ ထိုဆီမီးမှာ မှန်အိမ်တစ်ခုအတွင်း၌ ရှိပေသည်။

---

(၁) သာဝကကြီးအလီသခင်ထံမှ ကြားသိရသည်မှာ ( اَللّٰهُ نُوْرُ السَّمٰوٰتِ وَالْاَرْضِ ) ဟူသော အာယတ်တော်သည် ( اَللّٰهُ نُوَّرَ السَّمٰوٰتِ وَالْاَرْضَ ) ဟူ၍ဖြစ်၏။ ဆိုလိုသည်ကား ထိုအရှင်မြတ်သည် ထိုမိုးမြေများတွင် အမှန်တရားကို ပျံ့နှံ့စေတော်မူရာ ထိုမိုးမြေများသည် ထိုတရားရောင်ခြည်ဖြင့် လင်းဝင်းသွားခဲ့လေသည်။ သို့တည်းမဟုတ်၊ အခြားတစ်နည်း အဖွင့်မှာ ထိုအရှင်မြတ်သည် ထိုမိုးမြေရှိ လူသားတို့၏ စိတ်နှလုံးများကို ထိုတရားရောင်ခြည်တော်ဖြင့် လင်းဝင်းစေတော်မူသည်ဟူ၏။

**'နူရ်' နှင့်စပ်လျဉ်းသည့် အခြားအဖွင့်များ။**

ဤပုံဆောင်ချက်တွင်ပါရှိသော 'နူရ်'ဟူသော ပုဒ်နှင့်စပ်လျဉ်း၍ 'မုဖတ်စ်စိရ်'များ အမျိုးမျိုးဖွင့်ဆိုကြသည်။

(၁) အချို့က ဤပုံဆောင်ချက်တွင်ပါရှိသော နူရ်သည် မုအ်မင်န်၏ နှလုံးသားတွင် ရှိသော အလ္လာဟ်အရှင်မြတ်၏ ဓမ္မရောင်ခြည်တော်ကို ဆိုလိုကြသည်။

(၂) အချို့က ( مَثَلُ نُوْرِهٖ ) ၌ ပါရှိသော (ဟီ)ဟူသော နာမ်စားသည် မုအ်မင်န်ကို ရည်ညွှန်းသည်၊ ဤပုံဆောင်ချက်မှာ မုအ်မင်န်၏ နှလုံးအတွင်း အလင်းရောင်ကိုပင် ပုံဆောင်ပြထားသော ပုံဆောင်ချက်ဖြစ်သည်ဟု ဆိုကြသည်။

(၃) အချို့က ဤပုံဆောင်ချက်တွင် 'နူရ်' သည် ကုရ်အာန်ကိုရည်ညွှန်းသည်ဟု ဆိုကြသည်။ ➢➢

شَجَرَةٍ مُّبٰرَكَةٍ زَيْتُوْنَةٍ لَّا شَرْقِيَّةٍ وَّلَا غَرْبِيَّةٍ ۙ يَّكَادُ زَيْتُهَا يُضِيْٓءُ وَلَوْ لَمْ تَمْسَسْهُ نَارٌ ۭ نُوْرٌ عَلٰي نُوْرٍ ۭ يَهْدِي اللّٰهُ لِنُوْرِهٖ مَنْ يَّشَاۗءُ ۭ وَيَضْرِبُ اللّٰهُ الْاَمْثَالَ لِلنَّاسِ ۭ وَاللّٰهُ بِكُلِّ شَيْءٍ عَلِيْمٌ ۙ﴿٣٥﴾

ထိုမှန်အိမ်မှာမူကား ထွန်းလင်းတောက်ပသော ကြယ်တာရာတစ်လုံးကဲ့သို့ပင်ယင်းဆီမီးမှာ ကောင်းချီးမင်္ဂလာနှင့်ပြည့်စုံသော သစ်ပင်မှ သံလွင်ဆီဖြင့် ထွန်းရလေသည်။ ထိုသစ်ပင်မှာမူကား အကာအကွယ်တစ်ခုခု၏ အရှေ့ဘက်၌ ကျသည်လည်းမဟုတ်၊ အနောက်ဘက်၌ ကျသည်လည်း မဟုတ်ပေ။ ထိုသစ်ပင်၏အဆီမှာ မီးနှင့် လုံးဝတို့မိခြင်း မရှိငြားသော်လည်း ထတောက်အံ့ဆဲဆဲ ဖြစ်နေပေသည်။

(အမှန်သော်ကား)ရောင်ခြည်ပေါ်၌ ရောင်ခြည် (ထပ်လျက်ပင်) ရှိနေပေသည်။ အလ္လာဟ်အရှင်မြတ်သည် မိမိ အလိုရှိတော်မူသောသူအား မိမိ၏(ဓမ္မ) ရောင်ခြည်တော်သို့ လမ်းညွှန်တော်မူ၏။ ထိုမှတပါး အလ္လာဟ်အရှင်မြတ်သည်အရာခပ်သိမ်းတို့ကို အကြွင်းမဲ့ သိမြင် ကြားတော်မူသောအရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

فِيْ بُيُوْتٍ اَذِنَ اللّٰهُ اَنْ تُرْفَعَ وَيُذْكَرَ فِيْهَا اسْمُهٗ ۙ يُسَبِّحُ لَهٗ فِيْهَا بِالْغُدُوِّ وَالْاٰصَالِ ﴿٣٦﴾

၃၆။ (ယင်းမှန်အိမ်သည်) အကြင်အိမ်တော်များ၌ ရှိ၏။ အလ္လာဟ်အရှင်မြတ်သည် ထိုအိမ်တော်များကို ရိုသေချီးမြှောက်ရန်လည်းကောင်း၊ ထိုအိမ်တော်များ၌ အလ္လာဟ်အရှင်မြတ်၏နာမံတော်ကို အောက်မေ့တသရန်လည်းကောင်း၊ အမိန့်တော် ထုတ်ပြန်ထားတော်မူ၏။ ထိုအိမ်တော်များတွင် နံနက်ယံ၌လည်းကောင်း၊ ညနေချမ်းများ၌လည်းကောင်း၊ထိုအရှင်မြတ် စင်ကြယ်သန့်ရှင်းတော်မူကြောင်း မြွက်ဆိုလျက် ရှိကြ၏။

---

➢➢(၄)အချို့က ဤပုံဆောင်ချက်တွင် 'နူရ်' သည် အခြားမဟုတ်၊ အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်နာခံခြင်းကိုပင် 'နူရ်' ဟူ၍ သုံးနှုန်းထားတော်မူခြင်းဖြစ်သည်ဟု ဆိုကြသည်။

(၅) အချို့က ဤပုံဆောင်ချက်တွင် 'နူရ်'သည် တမန်တော်မြတ် မုဟမ္မဒ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)ကိုပင် ရည်ညွှန်းသည်ဟု ဆိုကြသည်။ ခါဇင်န်(အ-၅။စ-၆၃)။

رِجَالٌ لَّا تُلۡهِيهِمۡ تِجَٰرَةٞ وَلَا بَيۡعٌ عَن ذِكۡرِ ٱللَّهِ وَإِقَامِ ٱلصَّلَوٰةِ وَإِيتَآءِ ٱلزَّكَوٰةِ يَخَافُونَ يَوۡمٗا تَتَقَلَّبُ فِيهِ ٱلۡقُلُوبُ وَٱلۡأَبۡصَٰرُ ٣٧

၃၇။ အကြင်ကဲ့သို့သော ယောကျ်ားတို့သည် ထိုယောကျ်ားတို့အား မည်သည့်ကုန်သွယ်မှုနှင့် မည်သည့်ရောင်း(ဝယ်ဖောက်ကား)မှုမျှပင် အလ္လာဟ်အရှင်မြတ်အားအောက်မေ့တသခြင်းမှလည်းကောင်း၊ 'ဆွလာတ်' ဝတ်ပြုမှုကို ဆောက်တည်ခြင်းမှ လည်းကောင်း၊ 'ဇကာတ်' ပေးဆောင်ခြင်းမှလည်းကောင်း၊ အာရုံပြောင်းစေခြင်း မရှိပေ။ ထိုယောကျ်ားတို့သည်ကား စိတ်နှလုံးများနှင့် မျက်စိများ ယောက်ယက်ခတ်နေမည့်နေ့ကို ကြောက်ရွံ့စိုးရိမ်လျက် ရှိကြကုန်၏။[၁]

---

(၁) **တရားဓမ္မရရှိသော သူတော်စင်များ၏ ဂုဏ်ရည်များ။**

အထက်တွင် တရားဓမ္မအကြောင်း၊ တရားဓမ္မသည် အလ္လာဟ်အရှင်၏ အလိုတော်နှင့် ဆက်စပ်လျက်ရှိကြောင်း မိန့်ဆိုထားတော်မူသည်။ ယခု ဤအာယတ်တော်များတွင် တရားရရှိကြသော သူတော်စင်များ၏ ဂုဏ်ရည်များကို မိန့်ဆိုထားတော်မူသည်။ ထိုသူတော်စင်များသည် 'မတ်စ်ဂျိဒ်' ဗလီကျောင်းများတွင် သွားရောက်၍ နေ့ရောညဉ့်ပါ အလ္လာဟ်အရှင်မြတ်အား ဂုဏ်တော်မွမ်းကြသည်။ ထိုသူတော်စင်များသည် သာသနာတော်၏ ကျင့်စဉ်ကျင့်ရပ်များကို ဦးလည်မသုံ လိုက်နာကျင့်သုံးကြပေသည်။ 'ဆွလာတ်' ဝတ်ပြုကြပေသည်။ 'ဇကာတ်' ပေးဆောင်ကြလေသည်။ ထိုသူတော်စင်များသည် 'ဟလာလ်' သမာအာဇီဝနည်းဖြင့် ကူးသန်းရောင်းဝယ်ဖောက်ကားမှုကိုလည်း ပြုလုပ်ကြပေသည်။

သို့တစေလည်း ယင်း ကူးသန်းရောင်းဝယ် ဖောက်ကားမှုသည် ၎င်းတို့၌ အလ္လာဟ်အရှင်မြတ်အားအောက်မေ့တသမှု၊ ဆွလာတ်ဝတ်ပြုမှု၊ ဇကာတ်ပေးမှု စသည်တို့တွင် မည်သို့မျှ အနှောင့်အယှက် အဟန့်အတားမပြုပေ။ ထိုသူတော်စင်များသည် အခါခပ်သိမ်း အလ္လာဟ်အရှင်မြတ်အား အောက်မေ့တသ၊ သတိရကာသာသနာ့ကျင့်စဉ် ကျင့်ရပ်များကိုကျေပွန်စွာ လိုက်နာကျင့်သုံးနေနိုင် ကြပါသော်လည်း မိမိကိုယ်ကိုမိမိအထင်မကြီးကြပေ။ နောင်ရေး စိတ်မအေးကြပေ၊ သူငါအများအကြောက်ကြီး ကြောက်ကာ ယောက်ယက်ခတ်နေကြမည့် ကိယာမတ်နေ့ကို ထိုသူတော်စင်များသည်လည်း ပို၍ပင် ကြောက်ရွံ့စိုးရိမ်လျက် ရှိကြပေသည်။

ဤကား မုအ်မင်န် သူတော်စင်များ၏ ဂုဏ်ရည်များတည်း။ ယင်းသို့သော သူတော်စင် များအားအလ္လာဟ်အရှင်မြတ်သည် ၎င်းတို့၏ ကျင့်မူဆည်းပူးခဲ့ကြသော ကောင်းမှုသုစရိုက်တို့နှင့် စပ်လျဉ်း၍ အကောင်းမြတ်ဆုံးသော ကုသိုလ်အကျိုးများကို ချီးမြှင့်တော်မူမည်သာမက မိမိ၏ ကျေးဇူးတော်ဖြင့် အပိုဆုလာဘ်များကိုလည်းချီးမြှင့်တော်မူဦးမည် ဖြစ်သည်။ ကြည့်-ကုရ်အာန်(၄း၁၇၃၊ ၁၀း၂၆၊ ၂၄း၃၈၊ ၃၅း၃၀၊ ၄၂း၂၆)

**မှတ်ချက်။**

(က) ဤအာယတ်တော်တွင် ပါရှိသော 'အိမ်များ' ဟူသည် 'ဗိုင်တုလ္လာဟ်' အလ္လာဟ်အရှင်မြတ်၏အိမ်တော်များဖြစ်သော 'မတ်စ်ဂျိဒ်' ဗလီများကို ဆိုလိုသည်။ ယင်းဗလီများကို ရိုသေလေးစားကြရမည်။ ထိုဗလီများတွင် အလ္လာဟ်အရှင်မြတ်၏ ဂုဏ်တော်များကို မွမ်းကြရမည်။ 

لِيَجْزِيَهُمُ اللّٰهُ اَحْسَنَ مَا عَمِلُوْا وَيَزِيْدَهُمْ مِّنْ فَضْلِهٖ ۗ وَاللّٰهُ يَرْزُقُ مَنْ يَّشَآءُ بِغَيْرِ حِسَابٍ ﴿٣٨﴾

၃၈။ နောက်တွင်မူအလ္လာဟ်အရှင်မြတ်သည် ၎င်းတို့အား ၎င်းတို့ ကျင့်မူခဲ့ကြကုန်သော ကောင်းမှုသုစရိုက်များနှင့်စပ်လျဉ်း၍ အကောင်းဆုံးသော အကျိုးကျေးဇူးတော်ကို ချီးမြှင့်ပေးသနားတော်မူမည့်ပြင် မိမိ ကျေးဇူးတော်ဖြင့် ပို၍ပင် ချီးမြှင့်ပေးသနားတော် မူဦးမည်ဖြစ်ပေသည်။စင်စစ်သော်ကား အလ္လာဟ်အရှင်မြတ်သည် မိမိ အလိုရှိတော်မူသောသူအား အကန့်အသတ်မရှိ ချီးမြှင့်ပေးသနားတော်မူပေသတည်း။

وَالَّذِيْنَ كَفَرُوْٓا اَعْمَالُهُمْ كَسَرَابٍۭ بِقِيْعَةٍ يَّحْسَبُهُ الظَّمْاٰنُ مَآءً ۗ حَتّٰٓى اِذَا جَآءَهٗ

၃၉။ သို့ရာတွင် 'ကာဖိရ်' မယုံမကြည် သွေဖည်ငြင်းပယ်သောသူတို့သည် ၎င်းတို့၏ပြုကျင့်မှုတို့မှာမူကား လွင်တီးပြင်၌ရှိနေသော လင်းလျှပ်ပမာဖြစ်ပေရာ ရေမွတ်သိပ်သောသူတို့သည် ထိုလင်းလျှပ်ကိုပင် ရေဟူ၍ ထင်မှတ်လေသည်။

>> ဗလီများကို ရိုသေလေးစားရမည်ဟူသော အမိန့်တော်အရ ဗလီအတွင်းသို့ 'ဂျနာဗတ်' ရေချိုးရန်တာဝန်ရှိသူများ၊ 'ဟိုက်ဇ်' ရာသီသွေးဆင်းနေသော အမျိုးသမီးများ မဝင်ကြရ။ မသန့်ရှင်းသော ပစ္စည်းများကို ဗလီအတွင်းသို့ မသွင်းကြရ။ နံစော်သော ပစ္စည်းများကို စားသုံး၍ ဗလီအတွင်းသို့ မဝင်ကြရ။ ဗလီများတွင် အော်ဟစ်ဆူညံခြင်း မပြုကြရ။ လောကီစကားများ မပြောဆိုကြရ။ အခါခပ်သိမ်း ဗလီများကို စင်ကြယ်သန့်ရှင်းစွာထားကြရမည်။

ဗလီများကို အထူးတလည် သန့်ရှင်းစွာ ထားကြရမည့်အကြောင်း၊ ဗလီများတွင် တံမြက်လှည်းကြရမည့်အကြောင်း၊ ရေးဆေးရမည့်အကြောင်း၊ တံတွေး မထွေးရမည့်အကြောင်း၊ အမွှေးအကြိုင်များ သင်းကြရမည့်အကြောင်း၊ ဗလီများတွင် လက်နက်များ ဆွဲကိုင်သွားလာခြင်း မပြုလုပ်ကြရမည့်အကြောင်း၊ အရောင်းအဝယ်မလုပ်ကြရမည့်အကြောင်း၊ လက်ာများ မဆိုကြရမည့်အကြောင်း၊ ဗလီပစ္စည်းများကို အပြင်သို့ ယူဆောင်မသွားကြရမည့်အကြောင်း၊ ဗလီများတွင် ရာဇဝတ် ပြစ်ဒဏ်များ၊ မခတ်ကြရမည့်အကြောင်းနှင့် ဗလီအဝင် ပေါက်များတွင် ခြေလက်ဆေးရန် ရေအိုးများ၊ အသင့်ထားရှိကြရမည့် အကြောင်းများကို ဟဒီးဆ်သြဝါဒတော်များတွင် အများအပြားတွေ့ရှိရပေသည်။

لَمْ يَجِدْهُ شَيْـًٔا وَّوَجَدَ اللّٰهَ عِنْدَهٗ فَوَفّٰىهُ حِسَابَهٗ ۗ وَاللّٰهُ سَرِيْعُ الْحِسَابِ ﴿٣٩﴾

နောက်ဆုံးတွင်၎င်းသည် ထိုလင်းလျှပ်အနီးသို့ ရောက်လတ်သော် ထိုလင်းလျှပ်ကို တစ်စုံတစ်ရာမျှ မတွေ့ခဲ့ရသည့်အပြင် ယင်း၏အနီးတွင် အလ္လာဟ် အရှင်မြတ်၏ အမိန့်တော်ကိုသာ တွေ့ရှိခဲ့လေသည်။ သို့ဖြစ်ပေရာ ထိုအရှင်မြတ်သည် ၎င်း၏စာရင်းအင်း ကို အပြည့်အဝ ရှင်းလင်းတော်မူခဲ့လေသည်။ (ဝါ) ၎င်း၏သက်တမ်းကို ကုန်ဆုံးစေတော်မူခဲ့လေသည်။ အမှန်သော်ကားအလ္လာဟ်အရှင်မြတ်သည် လျင်မြန်စွာ စစ်ဆေးတော်မူသောအရှင်မြတ်ပင်ဖြစ်တော်မူပေသည်။

اَوْ كَظُلُمٰتٍ فِيْ بَحْرٍ لُّجِّيٍّ يَّغْشٰىهُ مَوْجٌ مِّنْ فَوْقِهٖ مَوْجٌ مِّنْ فَوْقِهٖ سَحَابٌ ۗ ظُلُمٰتٌۢ بَعْضُهَا فَوْقَ بَعْضٍ ۗ اِذَآ اَخْرَجَ يَدَهٗ لَمْ يَكَدْ يَرٰىهَا ۗ وَمَنْ لَّمْ يَجْعَلِ اللّٰهُ لَهٗ نُوْرًا فَمَا لَهٗ مِنْ نُّوْرٍ ﴿٤٠﴾

**၄၀။** သို့တည်းမဟုတ် (ထိုကာဖိရ်သွေဖည်ငြင်းပယ်သောသူတို့၏မကောင်းမှုများသည်) အကြင် နက်ဝှမ်းသော သမုဒ္ဒရာပင်လယ်အတွင်းရှိ အမိုက်မှောင်များ နှင့် ပမာတူ၏။ ထိုသမုဒ္ဒရာပင်လယ်ကို လှိုင်းတံပိုး လွှမ်းမိုးလျက်ရှိ၏။ (တစ်ဖန်) ထိုလှိုင်းတံပိုး၏ ထက်ဝယ် (အခြားသော)လှိုင်းတံပိုးတစ်ခုသည်လည်း ရှိပြန်၏။ (တစ်ဖန်) ထိုလှိုင်းတံပိုး၏ထက်၌ မိုးတိမ် များလည်း ရှိနေပြန်၏။

(အချုပ်မှာ) အမိုက်မှောင်များ အပေါ်၌ အမိုက်မှောင်ထပ်လျက်ပင် ရှိနေပေရာ (အမိုက်မှောင် အထပ်ထပ်၌ရှိနေသော) အကြင်သူတစ်ဦးတစ်ယောက် သည် မိမိ၏လက်ကို ထုတ်(၍ ကြည့်)သောအခါ မြင်နိုင်ရန်လက္ခဏာမျှပင် မရှိချေ။ စင်စစ်သော်ကား အလ္လာဟ်အရှင်မြတ်က အလင်းရောင် ချီးမြှင့်တော် မမူတော့ပေ၊ အလင်းရောင် စိုးစဉ်းမျှကိုပင်ရရှိနိုင်မည် မဟုတ်ပေတကား။ [၁]

---

(၁) **ကာဖိရ်များ၏ အကျင့်အမူများ၏ ဥပမာ။**

(က) အချို့ ကာဖိရ်များသည် နောက်တမလွန်ရှိသည်ကို ယုံကြည်ကြသည်။ ၎င်းတို့၏ ➢➢

➤➤ ယုံကြည်ယူဆချက်အရ အချို့ ကောင်းမှုများကိုလည်း ပြုလုပ်ကြသည်။ သေပြီးနောက် မိမိတို့ပြုလုပ်ခဲ့သော ကောင်းမှုများ၏ အကျိုးများကို ခံစားကြရလိမ့်မည်ဟုလည်း ထင်မှတ်ကြသည်။ ကာဖိရ်များပြုလုပ်ကြသော ကောင်းမှုများသည် မျက်မြင်အားဖြင့် ကောင်းမှုများဖြစ်သည်ဟူ၍ပင် ထင်မှတ်ရသော်လည်း အမှန်မှာ အချည်းနှီးသာဖြစ်ချေသည်။ တရားမဝင်ပေ။ ဤသို့ အထင်အမြင်မှားနေသော ကာဖိရ်များ၏ ဥပမာကား နွေရာသီ၊ သဲကန္တာရတွင် နေ့လည်အချိန် ရေမွတ်သိပ်နေသူနှင့်တူ၏။ ထိုသူသည် အဝေးမှတွေ့မြင်နေရသော လင်းလျှပ်ကို ရေထင်မှတ်နေ၏။ ရေမွတ်သိပ်လှသည့်အတွက် သောက်ရေလိုသည့် ဇောဖြင့် လင်းလျှပ်ရှိရာသို့ အရောက်သွား၏။ ထိုနေရာသို့ ရောက်သွားသောအခါ ရေဟူ၍ တစ်စုံတစ်ရာမျှ မတွေ့ရှိရဘဲ စိတ်မော၊ ကိုယ်မောဖြစ်ကာ ဝမ်းနည်းကြေကွဲစွာ သေဆုံးသွားရလေသည်။ တစ်နည်း ထိုသူသည် ရေနှင့်မတွေ့ရဘဲ သေခြင်းတရားနှင့်သာ တွေ့သွားရလေသည်။

အချုပ်မှာ ရေမွတ်သိပ်နေသူသည် အပေါ်ယံ တွေ့မြင်ရသည့် သဲပူ၏ လင်းလျှပ်ကို ရေထင်နေခဲ့၏။ ထို့အတူ ကာဖိရ်သည် မိမိဆည်းပူးထားခဲ့သော အကျင့်အမှုများအပေါ် ယုံကြည်ပြီး နောင်တမလွန်ဘဝတွင် အကျိုးပေးလိမ့်မည်ဟူ၍ပင် ထင်မှတ်နေ၏။ လင်းလျှပ်သည် လက်တွေ့တွင် ရေမဟုတ်သကဲ့သို့ ကာဖိရ်၏ အကျင့်အမှုများသည်လည်း ကောင်းမှုများကို လက်ခံရန် အဓိကစည်းကမ်းချက်ဖြစ်သည့် အီမာန် ယုံကြည်ခြင်း သဒ္ဓါတရားမပါရှိသည့်အတွက် တရားမဝင် အကျိုးမပေး၊ အချည်းနှီးသာဖြစ်၏။ လင်းလျှပ်ကို ရေမှတ်သူသည် နောက်ဆုံးတွင် ဖြစ်ရပ်မှန်သိသွားရသကဲ့သို့ ကာဖိရ်များသည်လည်း နောင်တမလွန်ဘဝတွင် ဖြစ်ရပ်မှန်ကို သိသွားကြရပေမည်။ လင်းလျှပ်ကို ရေထင်မှတ်ကာ မျှော်လင့်ကြီးစွာ ထားခဲ့သူသည် နောက်ဆုံးတွင် မျှော်လင့်ချက်မှားနေကြောင်း သိရှိရသောအခါ ခဲလေသမျှ သဲရေကျဖြစ်ကာ ဝမ်းနည်းကြေကွဲစွာဖြင့် သေဆုံးသွားရသကဲ့သို့ ကာဖိရ်များသည်လည်း မိမိတို့ မျှော်လင့်ချက်ကြီးငယ် ထားခဲ့ကြသော ၎င်းတို့၏ အကျင့်အမှုများသည် နောင်တမလွန်တွင် အချည်းနှီးသာ ဖြစ်ကြောင်း သိရှိသွားကြသောအခါ၊ ခဲလေသမျှ သဲရေကျ ဖြစ်ကြပေမည်။ ယူကျုံးမရ ဖြစ်ကြပေမည်။ ထာဝရ ငရဲသို့လားကြရပေမည်။ ထာနဝီ။

(ခ) အချို့ကာဖိရ်များသည် နောင်တမလွန်ဘဝ ရှိသည်ကိုပင် အလျှင်းမယုံကြည်ကြပေ။ လောကီစည်းစိမ်များတွင် နစ်မွန်းလျက် သူမတူအောင် ဆိုးမိုက်ကြသည်။ ဤသို့သော ကာဖိရ်များအဖို့ နောင်တမလွန်တွင် ကောင်းကွက်ဟူ၍ တစ်ကွက်မျှ ရှိမည်မဟုတ်၊ အဘက်ဘက်တွင် ဆိုးကွက်သာရှိပေမည်။ ထိုသို့သော ကာဖိရ်များသည် အကြင်သူတစ်ဦးနှင့် တူသည်။ ထိုသူသည် ညဥ့်အချိန်၌ အလွန်နက်ရှိုင်းသော သမုဒ္ဒရာပင်လယ်အောက်တွင် ရောက်ရှိနေ၏။ ထိုသမုဒ္ဒရာ၏ မျက်နှာပြင်ကို လှိုင်းလုံးကြီးများသည် အထပ်ထပ် လွှမ်းခြုံထား၏။ တစ်ဖန် ထိုလှိုင်းလုံးကြီးများအထက်၌ မိုးတိမ် အထပ်ထပ်ရှိပြန်သေး၏။ ယင်းသို့ အမိုက်မှောင် အထပ်ထပ် ဝန်းရံလျက်ရှိသော နက်ရှိုင်းလှသည့် သမုဒ္ဒရာပင်လယ်အောက် ရောက်ရှိနေသူတစ်ဦးသည် လင်းရောင်ခြည် တစ်စုံတစ်ရာကို မြင်နိုင်ရန် ဝေးစွ၊ မိမိနှင့် အနီးစပ်ဆုံးဖြစ်သောလက်ကိုပင် မိမိ၏ မျက်စိနှင့် အနီးကပ်၍ ကြည့်ပါသော်လည်း အလျှင်းမြင်ရမည်မဟုတ်၊ မြင်ရန်ဝေးစွ၊ မြင်နိုင်လိမ့်မည်ဟူသော အတွေးအထင်သည်ပင်၊ အလျှင်းပေါ်မည်မဟုတ်ပေ။ ဆိုလိုသည်ကား သမုဒ္ဒရာပင်လယ်အောက် မှောင်အထပ်ထပ်တွင် ရောက်ရှိနေသော သူတစ်ဦးသည် မည်သည့်လင်းရောင်ခြည်ကိုမျှ မမြင်နိုင်သကဲ့သို့ နောင်တမလွန်ဘဝ ရှိသည်ကိုပင် အလျှင်း မယုံကြည်သော အီမာန် ယုံကြည်မှု၏ တံခါးကို လုံးဝ ပိတ်ထားသော သက်တမ်းတစ်လျှောက်လုံး အကုသိုလ်တရားများတွင် လုံးဝနစ်မွန်းနေသော ကာဖိရ်များသည် နောင်တမလွန်ဘဝတွင် ကုသိုလ်အကျိုး၏ လင်းရောင်ခြည်ကို အသို့လျှင် မြင်နိုင်ကြအံ့နည်း။

أَلَمْ تَرَ أَنَّ اللَّهَ يُسَبِّحُ لَهُ مَن فِي السَّمَاوَاتِ وَالْأَرْضِ وَالطَّيْرُ صَافَّاتٍ ۖ كُلٌّ قَدْ عَلِمَ صَلَاتَهُ وَتَسْبِيحَهُ ۗ وَاللَّهُ عَلِيمٌ بِمَا يَفْعَلُونَ ﴿٤١﴾

၄၁။ ဧကန်စင်စစ် မိုးကောင်းကင်များ၌ ရှိနေသူတို့သည်လည်းကောင်း၊ ပထဝီမြေ၌ ရှိသူတို့သည်လည်းကောင်း၊ အတောင်ပံများ၌ ဖြန့်(၍ ဝဲပျံ)လျက် ရှိကြကုန်သော ငှက်တိရစ္ဆာန်တို့သည်လည်းကောင်း၊ အလ္လာဟ်အရှင်မြတ် စင်ကြယ်သန့်ရှင်းတော်မူကြောင်း မြွက်ဆိုလျက်ရှိကြသည်ကို အသင်သည် မသိမြင်ခဲ့လေသလော။ (၎င်းတို့အနက်)အသီးသီးတို့သည် မိမိတို့၏ ဆုတောင်းပတ္တနာပြုနည်းကိုလည်းကောင်း၊ မိမိတို့၏ဘာဝနာစီးဖြန်းပုံကိုလည်းကောင်း၊ *ဧကန်အမှန်သိရှိပြီးဖြစ်ကြကုန်၏။* [၁] အမှန်စင်စစ်အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့ ပြုလုပ်လျက်ရှိကြသည်တို့ကို ကောင်းစွာ သိရှိတော်မူသောအရှင်မြတ်ပင် ဖြစ်တော်မူပေသည်။

وَلِلَّهِ مُلْكُ السَّمَاوَاتِ وَالْأَرْضِ ۖ وَإِلَى اللَّهِ الْمَصِيرُ ﴿٤٢﴾

၄၂။ ထို့ပြင် မိုးကောင်းကင်တွင် စိုးမိုးအုပ်ချုပ်မှုအာဏာသည်လည်းကောင်း၊ ပထဝီမြေတွင် စိုးမိုးအုပ်ချုပ်မှု အာဏာသည်လည်းကောင်း၊ အလ္လာဟ်အရှင်မြတ်၌သာ ရှိပေသည်။ ထိုမှတပါး (နောက်ဆုံး) *ပြန်လည်ရာစခန်းသည်လည်း အလ္လာဟ်အရှင်မြတ်အထံတော်၌သာလျှင် ဖြစ်ပေသတည်း။* [၂]

---

**(၁) အရာခပ်သိမ်းကုန်တို့သည် အလ္လာဟ်အရှင်မြတ်အား ဂုဏ်တော်မွမ်းလျက် ရှိကြကုန်၏။**

ကမ္ဘာ့အဝှန်းရှိ အရာခပ်သိမ်းကုန်တို့သည် နှုတ်လျှာအားဖြင့် ဖြစ်စေ၊ အနေအထား အခြေအနေအားဖြင့် ဖြစ်စေ၊ တစ်နည်းတစ်ဖုံ အလ္လာဟ်အရှင်မြတ်အား ဂုဏ်တော်မွမ်းလျက်၊ ချီးမွမ်းထောပနာလျက် စင်ကြယ်သန့်ရှင်းအပြစ်ကင်းတော်မူကြောင်း ထုတ်ဖော်ပြသလျက်ရှိကြကုန်၏၊ အဖန်ဆင်းခံ အားလုံးတို့သည် မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်အား တစ်နည်းတစ်ဖုံ ညွှန်ပြလျက်ရှိကြကုန်၏။ တွေးဆဆင်ခြင် မြော်မြင်ပါက ဤသည်ကို ကောင်းစွာ တွေ့ရှိနိုင်ပေသည်။

အလ္လာဟ်အရှင်မြတ်သည် အရာခပ်သိမ်းကုန်တို့ကို ၎င်းတို့၏ အခြေအနေနှင့် လျော်ညီစွာ ဝတ်ပြုနည်း၊ ဂုဏ်တော်မွမ်းနည်းများကို အသိပေးထားတော်မူသည်။ သို့အသိပေးထားတော်မူသည့်အလျောက် အရာခပ်သိမ်းကုန်တို့လည်း အသီးသီး မိမိတို့နည်းဖြင့် အလ္လာဟ်အရှင်မြတ်အား ဝတ်ပြုလျက်၊ ဂုဏ်တော်မွမ်းလျက် ရှိကြကုန်သည်။ ဤတွင် အံ့သြဖွယ်ကောင်းသည့် အချက်တစ်ရပ်မှာ မြောက်များစွာသော လူသားတို့သည် လူ့ဘဝကို ▷▷

اَلَمۡ تَرَ اَنَّ اللّٰهَ يُزۡجِىۡ سَحَابًا ثُمَّ يُؤَلِّفُ بَيۡنَهٗ ثُمَّ يَجۡعَلُهٗ رُكَامًا فَتَرَى الۡوَدۡقَ يَخۡرُجُ مِنۡ خِلٰلِهٖ‌ۚ وَيُنَزِّلُ مِنَ السَّمَآءِ مِنۡ جِبَالٍ فِيۡهَا

၄၃။ အသင်သည် မသိမမြင်ခဲ့လေသလော။ ဧကန်မလွဲ အလ္လာဟ်အရှင်မြတ်သည်မိုးတိမ်များကို တဖြည်းဖြည်းမောင်းနှင်တော်မူ၏။ ထို့နောက် ယင်းမိုးတိမ်များကို အချင်းချင်းပေါင်းစပ်တော်မူ၏။ ထို့နောက် ၎င်းတို့ကိုအထပ်ထပ်ဖြစ်စေတော်မူ၏။ ထိုအခါ အသင်သည် ယင်းမိုးတိမ်များ၏အကြားမှ မိုးပေါက်များ ထွက်(၍ ရွာသွန်း)လာသည်ကို တွေ့မြင်ရလေသည်။ ၁

---

➤➤ ရရှိထားကြပါလျက် မောက်မာပလွှား ဝါကြွား၍ အမိုက်မှောင်များတွင် နစ်မွန်းကာ မိမိတို့၏ အရှင်သခင်အစစ်အမှန်အား မေ့လျော့ကြပေသည်။

## ② အလ္လာဟ်အရှင်မြတ်၏ အာဏာစက်။

အလ္လာဟ်အရှင်မြတ်ဉာဏ်တော်သည် အတိုင်းအဆမရှိ ဖြစ်သကဲ့သို့ ထိုအရှင်မြတ်၏ တန်ခိုးတော်သည်လည်း အတိုင်းအဆမရှိပင်ဖြစ်ချေသည်။ ထိုအရှင်မြတ်၏ အာဏာစက်သည် မိုး၊ မြေ စကြာဝဠာအဝှန်း၌ တည်ရှိပေသည်။ အရာခပ်သိမ်းကုန်တို့သည် နောက်ဆုံးတွင် ထိုအရှင်မြတ်ထံတော်သို့ ပြန်လည်ရောက်ရှိကြရမည်သာဖြစ်သည်။ ရှေ့လာလတ္တံ့သော အာယတ်တော်များတွင် အလ္လာဟ်အရှင်မြတ်၏ အာဏာစက်တည်ရှိပုံနှင့် အံ့မဆုံး ခြယ်လှယ်စီမံပုံများကို မိန့်ဆိုထားတော်မူသည်။

### ① အလ္လာဟ်အရှင်မြတ်၏ အံ့ချီးမဆုံးသော စီမံခန့်ခွဲမှုတစ်ရပ်။

စကြာဝဠာအဝှန်း၌ အလ္လာဟ်အရှင်မြတ်၏ စီမံခန့်ခွဲပုံ၊ ခြယ်လှယ်ပုံများ အံ့မဆုံးတည်း။ ထိုသည့် စီမံခန့်ခွဲပုံ၊ ခြယ်လှယ်ပုံများကို လူသားတို့သည် အခါခပ်သိမ်း တွေ့မြင်နေကြရပေသည်။ ကျိုးကြောင်းဆင်ခြင်၍ ဖြစ်ရပ်မှန်ကို ထွင်းဖောက်သိမြင်နိုင်စွမ်းရှိသော မျက်စိများရှိပါက ယင်းသည့် အံ့ချီးမဆုံးသော စီမံခန့်ခွဲပုံ၊ ခြယ်လှယ်မှုများကို အလွယ်တကူ သိမြင်နိုင်ကြပေသည်။ ယခုမူ လူသားတို့သည် 'ဂရုမမူ-ဂူမမြင်' ဆိုသကဲ့သို့ အမှုမဲ့ အမှတ်မဲ့ နေသူကား များနေပေသည်။

လျော်ကန်သည့် ဥတုရာသီတွင် လျော်ကန်သည့်အပူဓာတ်ဖြစ်ပေါ်လာ၏။ ထိုအပူဓာတ်ဖြင့် သမုဒ္ဒရာပင်လယ်ကြီးငယ်တို့မှ လျော်ကန်သည့် ရေခိုး၊ ရေငွေ့များ ဖြစ်ပေါ်လာ၏။ ထိုရေခိုး၊ရေငွေ့များကို လျော်ကန်သောလေထုသည် လျော်ကန်ရာသို့ သယ်ဆောင်သွား၏။ အဆိုပါ ရေခိုးရေငွေ့များသည် အထက်ကောင်းကင်တွင် လျော်ကန်သည့် လေထုနှင့်တွေ့ကာ မိုးတိမ်များ ဖြစ်လာ၏။ အကွဲကွဲ အပြားပြားဖြစ်ပေါ်လာခဲ့သော မိုးတိမ်များသည် လျော်ကန်စွာ အချင်းချင်းပေါင်းစပ်လာ၏။ အထပ်ထပ် ဖြစ်လာ၏။ ထို့နောက် လျော်ကန်သည့်အချိန်တွင် လျော်ကန်သည့် နေရာများ၌ လျော်ကန်သည်နှင့်အမျှ မိုးရွာသွန်းချ၏။ ထိုမိုးရေ၏ ကျေးဇူးဖြင့် ကမ္ဘာ့မြေမျက်နှာပြင်ကြီးသည် စိုပြည်သာယာလာ၏။ ဤကား နစ်စဉ်နှင့်အမျှ လူသားတို့ တွေ့မြင်နေကြရသောဖြစ်စဉ်ဖြစ်ရပ်တည်း။ ဤလျော်ကန်သင့်မြတ်လှသည့် မည်သည့်လူသားမျှ မပြုစွမ်းနိုင်သည့် အံ့ချီးမဆုံးသည့် ဖြစ်စဉ် ဖြစ်ရပ်ကား စီမံခန့်ခွဲသူ၊ ခြယ်လှယ်သူ တစ်ဦးတစ်ယောက်မျှ မပါရှိဘဲ မိမိအလိုအလျောက် ဖြစ်ပေါ်နေနိုင်ပါ၏လော။ အလျှင်းမဖြစ်နိုင်၊ အမှန်မှာ ဤသည် အတိုင်းအဆမရှိ ဉာဏ်တော်၊ တန်ခိုးတော်များနှင့်ပြည့်စုံတော်မူသော အလ္လာဟ်အရှင်မြတ်၏ အံ့ချီးမဆုံးသည့် စီမံခန့်ခွဲမှု၊ ခြယ်လှယ်မှုတစ်ရပ်ပင်။

مِنۢ بَرَدٍ فَيُصِيبُ بِهِۦ مَن يَشَآءُ وَيَصْرِفُهُۥ عَن مَّن يَشَآءُ ۖ يَكَادُ سَنَا بَرْقِهِۦ يَذْهَبُ بِٱلْأَبْصَٰرِ ﴿٤٣﴾

ထိုနည်းတူ တစ်နည်း၊ ထိုအရှင်မြတ်သည် ထိုမိုးတိမ်မှပင် (ဝါ)ထိုမိုးတိမ်၏ အစိုင်အခဲကြီးများမှပင် မိုးသီးများကိုကျစေတော်မူသည်။ [၁] ထိုအရှင်မြတ်သည် မိုးကောင်းကင်မှ မိုးသီးများပါရှိသော အစိုင်အခဲကြီးများကို ကျစေတော်မူ၏။ တစ်ဖန် ထိုအရှင်မြတ်သည် ထိုမိုးသီးများဖြင့် မိမိအလိုရှိတော်မူသော သူအား ထိခိုက်စေတော်မူ၍၊ မိမိအလိုရှိတော်မူသော သူမှ ယင်းမိုးသီးများကိုလွှဲဖယ်တော်မူ၏။ ယင်းမိုးတိမ်၏ လျှပ်ပြက်ရောင်သည်စက္ခုအလင်းကို သိမ်းယူသွားအံ့ဆဲဆဲ ဖြစ်ပေသည်။

يُقَلِّبُ ٱللَّهُ ٱلَّيْلَ وَٱلنَّهَارَ ۚ إِنَّ فِى ذَٰلِكَ لَعِبْرَةً لِّأُو۟لِى ٱلْأَبْصَٰرِ ﴿٤٤﴾

၄၄။ အလ္လာဟ်အရှင်မြတ်သည် ညဉ့်နှင့်နေ့ကို (အလှည့်ကျ) လွှဲပြောင်းတော်မူပေသည်။ ဧကန်မလွဲ ဤသည်၌ (ဉာဏ်)မျက်စိရှိသူတို့အဖို့ (မှတ်သားဖွယ်) သင်ခန်းစာသည် အမှန်ပင် ရှိပေသတည်း။

وَٱللَّهُ خَلَقَ كُلَّ دَآبَّةٍ مِّن مَّآءٍ ۖ فَمِنْهُم مَّن يَمْشِى عَلَىٰ بَطْنِهِۦ وَمِنْهُم مَّن يَمْشِى عَلَىٰ رِجْلَيْنِ

၄၅။ ၎င်းပြင် အလ္လာဟ်အရှင်မြတ်သည် သွားလာလှုပ်ရှားလျက်ရှိသော သတ္တဝါအသီးသီးကို ရေဖြင့် ဖန်ဆင်းတော်မူခဲ့လေသည်။ တစ်ဖန်ထိုသတ္တဝါတို့တွင် မိမိဝမ်းဗိုက်ဖြင့် တွား၍သွားသော သတ္တဝါမျိုးလည်း ရှိ၏။ ထို့ပြင် ၎င်းတို့တွင် ခြေနှစ်ချောင်းဖြင့်သွားသော သတ္တဝါမျိုးလည်းရှိ၏။

(၁) 'မြေပြင်တွင် ကျောက်တောင်များ ရှိသကဲ့သို့ ကောင်းကင်တွင်လည်း မိုးသီးတောင်များ ရှိသည်' ဟု အတိတ်ခေတ် အချို့ပညာရှင်များက ဆိုကြသည်။ သို့ရာတွင် ပိုမိုသင့်မြတ်၊ ယုတ္တိရှိသော အဆိုမှာ ဤအာယတ်တော်တွင်လာရှိသော စမာ ဟူသောပုဒ်သည် မိုးတိမ်ကို ဆိုလိုသည်။

ဆိုလိုသည်ကား အစိုင်အခဲကြီးမား များပြား ထူထပ်လှသော မိုးတိမ်များကို တောင်များဟူ၍ ပုံနှိုင်း မိန့်ဆိုထားတော်မူခြင်းဖြစ်သည်။ မြန်မာ့စာပေတွင်လည်း ဤသို့သော အသုံးအနှုန်းများကို တွေ့ရှိရပေသည်။ ယင်းသည့် အစိုင်အခဲကြီးမား များပြားထူထပ်လှသော တိမ်တောင်မှပင် အလ္လာဟ်အရှင်မြတ်သည် မိုးသီးများကို ရွာသွန်းချတော်မူသည်။ ထိုသို့မိုးသီးများကျသဖြင့် အချို့၌ အသက်အန္တရာယ်ဖြစ်ရသည်။ အချို့၌ ဥစ္စာပစ္စည်း ပျက်စီးဆုံးပါးရသည်။ အချို့မှာမူ လွတ်မြောက်သွားကြပေသည်။ ဤသည်လည်း အလ္လာဟ်အရှင်မြတ်၏ စီမံခန့်ခွဲမှုတစ်ရပ်ပင်။

وَمِنْهُمْ مَّنْ يَّمْشِيْ عَلٰٓى اَرْبَعٍ ۭ يَخْلُقُ اللّٰهُ مَا يَشَاۗءُ ۭ اِنَّ اللّٰهَ عَلٰي كُلِّ شَيْءٍ قَدِيْرٌ ۝

ထိုမှတပါး ၎င်းတို့တွင် ခြေလေးချောင်းဖြင့် သွားသောသတ္တဝါမျိုးလည်းရှိ၏။ အလ္လာဟ်အရှင်မြတ်သည် မိမိအလိုရှိတော်မူသောအရာကို ဖန်ဆင်းတော်မူပေသည်။ ဧကန်မလွဲ အလ္လာဟ်အရှင်မြတ်သည် အရာခပ်သိမ်းတို့ကို စွမ်းဆောင်နိုင်တော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

لَقَدْ اَنْزَلْنَآ اٰيٰتٍ مُّبَيِّنٰتٍ ۭ وَاللّٰهُ يَهْدِيْ مَنْ يَّشَاۗءُ اِلٰى صِرَاطٍ مُّسْتَقِيْمٍ ۝

၄၆။ ဧကန်စင်စစ် ငါအရှင်မြတ်သည် ထင်ရှားစွာ သက်သေ လက္ခဏာတော်များကို ချပေးသနားတော်မူခဲ့သည်။ စင်စစ်မူကား အလ္လာဟ်အရှင်မြတ်သည် မိမိအလိုရှိတော်မူသောသူအား ဖြောင့်မတ်မှန်ကန်သော တရားလမ်းသို့ ညွှန်ပြပို့ဆောင်တော်မူပေသတည်း။

وَيَقُوْلُوْنَ اٰمَنَّا بِاللّٰهِ وَبِالرَّسُوْلِ وَاَطَعْنَا ثُمَّ يَتَوَلّٰى فَرِيْقٌ مِّنْهُمْ مِّنْۢ بَعْدِ ذٰلِكَ ۭ وَمَآ اُولٰۗىِٕكَ بِالْمُؤْمِنِيْنَ ۝

၄၇။ စင်စစ် ထို(မုနာဖစ်က်တို့က) ကျွန်ုပ်တို့သည် အလ္လာဟ်အရှင်မြတ်အားလည်းကောင်း၊ ရစူလ်တမန်တော်မြတ်အားလည်းကောင်း၊ ယုံကြည်ပါပြီ။ ၎င်းပြင် ကျွန်ုပ်တို့သည် (အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်များနှင့် ရစူလ်တမန်တော်မြတ်၏ အမိန့်တော်များကိုလည်း) နာခံကြပါပြီဟု ပြောဆိုကြလေသည်။ တစ်ဖန် ထိုသည့်နောက်တွင် ၎င်းတို့အနက် လူတစ်စုသည် ရှောင်သွေကြလေသည်။ စင်စစ်သော်ကား ၎င်းတို့သည် *'မုအ်မင်န်' သက်ဝင် ယုံကြည်သူများ မဟုတ်ကြချေ။* [၁]

---

(၁) **မုနာဖစ်က်များ၏ ကောက်ကျစ်စဉ်းလဲပုံ။**

မုနာဖစ်က် အယောင်ဆောင်များသည် သူတစ်ပါးတို့အား ပြစားလိမ်လည် လှည့်ဖြားနိုင်ရန် အတွက် စိတ်တွင်းမှမပါ နှုတ်ဖြင့်သာ "ကျွန်ုပ်တို့သည် အလ္လာဟ်အရှင်မြတ်အား လည်းကောင်း၊ တမန်တော်မြတ်အား လည်းကောင်း ယုံကြည်ကြပါသည်။ အမိန့်တော်များကိုလည်း နာခံကြပါသည်"ဟု ထုတ်ဖော်ပြောဆိုကြသည်။ သို့တစေလည်း လက်တွေ့ လိုက်နာကျင့်သုံးရမည့် အချိန်တွင်မူ အမိန့်တော်များကို သွေဖည်ကျောခိုင်း သွားကြပေသည်။ အမှန်မှာ မုနာဖစ်က်တို့သည် အယောင်ဆောင်များသာ ဖြစ်ကြသည်။ ၎င်းတို့၏ စိတ်နှလုံးများတွင် (အီမာန်) ယုံကြည်မှု၊ (အိတွာအတ်) နာခံမှုသည် အနည်းငယ် စိုးစဉ်းမျှပင်မရှိပေ။➢➢

وَاِذَا دُعُوْٓا اِلَى اللّٰهِ وَرَسُوْلِهٖ لِيَحْكُمَ بَيْنَهُمْ اِذَا فَرِيْقٌ مِّنْهُمْ مُّعْرِضُوْنَ ﴿٤٨﴾

၄၈။ ၎င်းပြင် ထိုသူတို့သည် အလ္လာဟ်အရှင်မြတ် အထံတော်သို့လည်းကောင်း၊ ထိုအရှင်မြတ်၏ ရစူလ်တမန်တော်မြတ်ထံသို့လည်းကောင်း၊ ထိုရစူလ်တမန်တော်မြတ်သည် ၎င်းတို့အကြား၌ စီရင်ဆုံးဖြတ်ပေးတော်မူအံ့သောငှာ အခေါ်ခံကြရသောအခါ ၎င်းတို့အနက် လူတစ်စုသည် ရုတ်တရက် လွှဲရှောင်သွားကြကုန်၏။

وَاِنْ يَّكُنْ لَّهُمُ الْحَقُّ يَاْتُوْٓا اِلَيْهِ مُذْعِنِيْنَ ﴿٤٩﴾

၄၉။ သို့ရာတွင် အကယ်၍ ၎င်းတို့၌ အခွင့်အရေးရှိလျှင် ၎င်းတို့သည် ထိုရစူလ်တမန်တော်မြတ်သို့ ကျိုးနွံစွာနှင့် ရောက်ရှိလာကြကုန်၏။

اَفِيْ قُلُوْبِهِمْ مَّرَضٌ اَمِ ارْتَابُوْٓا اَمْ يَخَافُوْنَ اَنْ

၅၀။ အသို့ပါနည်း။၎င်းတို့၏စိတ်နှလုံးအတွင်း၀ယ် (ကုဖ်ရ်-နိဖာက်၏) ရောဂါရှိနေသလော၊ သို့တည်းမဟုတ်၎င်းတို့သည် (တမန်တော်မြတ်၏ တမန်တော်ဖြစ်မှုနှင့်စပ်လျဉ်း၍) ဒွိဟသံသယဖြစ်နေကြသလော၊

➤➤ ၎င်းတို့ ထုတ်ဖော်ပြောဆိုသော စကားများသည် ပြစားရန် အတွက်သာလျှင် ဖြစ်ချေသည်။ လက်တွေ့တွင် ၎င်းတို့၏ အပြုအမူသည် ၎င်းတို့၏ စကားများနှင့် ဖြောင့်ဖြောင့်ကြီး ဆန့်ကျင်လျက်ရှိပေသည်။

မုနာဖစ်က်များသည် တစ်ဦးတစ်ယောက်နှင့် အမှုအခင်းဖြစ်သော်၊ တစ်ဖက်မှ အဆုံးအဖြတ်နာယူရန် အတွက် တမန်တော်မြတ်ထံ သွားရောက်ကြရန် အဆိုပြုသော်၊ မုနာဖစ်က်များသည် ယင်းအမှုအခင်းများတွင် ၎င်းတို့ကိုယ်တိုင် မှားနေကြသည်ကို သိကြသော်၊ တမန်တော်မြတ်ထံ အဆုံးအဖြတ်နာယူရန်ကိစ္စကို လက်မခံကြပေ။ အဘယ့်ကြောင့်ဆိုသော် တမန်တော်မြတ်သည် မည်သူ့ကိုမျှ မထောက်ထားမငဲ့ညှာဘဲ တရားသဖြင့် အမှန်အတိုင်း အတိအကျ စီရင်ဆုံးဖြတ်ပေးတော်မူမည်။ သို့ တရားသဖြင့် စီရင်ဆုံးဖြတ်ပေးတော် မူလိုက်လျှင် ၎င်းတို့အဖို့ အရှုံးသာဖြစ်မည်ကို ယင်းမုနာဖစ်က်များ သိကြပေ၏သည်။ ဤသို့ဖြင့် ၎င်းတို့၏ အလုပ်သည် ၎င်းတို့၏အပြောနှင့် ဖြောင့်ဖြောင့်ကြီး ဆန့်ကျင်လျက်ရှိပေသည်။

အကယ်၍ အမှုအခင်းတစ်ရပ်တွင် မုနာဖစ်က်များသည် အမှန်ဘက်၌ ရှိနေကြလျှင်၊ တမန်တော်မြတ်ထံမှ အဆုံးအဖြတ်ယူခြင်းဖြင့် ၎င်းတို့အဖို့ အကျိုးရှိလျှင်၊ ၎င်းတို့သည် တမန်တော်မြတ်ထံသို့ ကြည်ဖြူစွာ လာကြပေသည်။ တမန်တော်မြတ်ထံမှသာလျှင် အဆုံးအဖြတ် ယူကြရမည်ဟူ၍ပင် အကျပ်ကိုင်ကြပေသည်။ အဘယ်ကြောင့်ဆိုသော် တမန်တော်မြတ်သည် တရားသဖြင့် အမှန်အတိုင်း ဆုံးဖြတ်ပေးတော်မူမည်ဖြစ်ရာ ၎င်းတို့အဖို့ အမြတ်ထွက်မည်ကို ကြိုတင် သိနှင့်ကြပေသည်။ ဤသို့အားဖြင့် မုနာဖစ်က်များသည် မလိုတစ်မျိုး လိုတစ်မျိုး ပြုလုပ်ကြပေသည်။ အမှန်မှာ မုနာဖစ်က်များသည် ယခုခေတ် အသုံးအနှုန်းအရ အစွလာမ့် အရေခြုံထားသည့် ကိုယ်ကျိုးရှာ အချောင်းသမား ကာဖိရ်များသာဖြစ်ကြပေသည်။

يَحِيفَ اللَّهُ عَلَيْهِمْ وَرَسُولُهُ ۚ بَلْ أُولَٰئِكَ هُمُ الظَّالِمُونَ ﴿٥٠﴾

သို့တည်းမဟုတ် အလ္လာဟ်အရှင်မြတ်သည်လည်းကောင်း၊ထိုအရှင်မြတ်၏ ရစူလ်တမန်တော်မြတ်သည်လည်းကောင်း၊ ထိုသူတို့အပေါ်၌ မတရားပြုလုပ်တော်မူမည်ဟုစိုးရိမ်နေကြသလော။ ထိုသို့ အလျှင်းမဟုတ်၊ စင်စစ်မှာမူကား ၎င်းတို့ကိုယ်တိုင် မတရားပြုမူသူများဖြစ်ကြကုန်၏။

إِنَّمَا كَانَ قَوْلَ الْمُؤْمِنِينَ إِذَا دُعُوا إِلَى اللَّهِ وَرَسُولِهِ لِيَحْكُمَ بَيْنَهُمْ أَن يَقُولُوا سَمِعْنَا وَأَطَعْنَا ۚ وَأُولَٰئِكَ هُمُ الْمُفْلِحُونَ ﴿٥١﴾

**၅၁။** (သို့ရာတွင်) 'မုအ်မင်န်' သက်ဝင်ယုံကြည်သူတို့၏စကားမှာ ၎င်းတို့သည် အလ္လာဟ်အရှင်မြတ်အထံတော်သို့လည်းကောင်း၊ ထိုအရှင်မြတ်၏ ရစူလ်တမန်တော်မြတ်ထံသို့လည်းကောင်း၊ ထိုရစူလ်တမန်တော်မြတ်သည် ၎င်းတို့အကြား၌ စီရင်ဆုံးဖြတ်၍ပေးတော်မူအံ့သောငှာ အခေါ်ခံကြရသောအခါ၊ ၎င်းတို့က ကျွန်တော်မျိုးတို့သည်ကြားနာကြပါပြီ၊ ထို့ပြင်ကျွန်တော်မျိုးတို့သည် လိုက်နာကြပါပြီ၊ ဟူ၍ပြောဆိုကြကုန်၏။ စင်စစ်မှာမူကား ဤကဲ့သို့သောသူသာလျှင် *အောင်မြင်မှုရရှိသူများဖြစ်ကြကုန်၏။* ၁

---

(၁) **မုအ်မင်န်တို့၏ သဘောဖြူ အူစင်းမှု။**

အထက်တွင် မုနာဖစ်က်များ၏ ကောက်ကျစ်စဉ်းလဲမှုကို မိန့်ဆိုထားတော်မူသည်။ ယခု ဤအာယတ်တော်တွင် မုအ်မင်န်တို့၏ သဘောဖြူ အူစင်းမှုကို မိန့်ဆိုထားတော်မူသည်။

မုအ်မင်န်များသည် ကိစ္စတစ်ရပ်နှင့် စပ်လျဉ်း၍ အဆုံးအဖြတ်နာယူရန်အတွက် တမန်တော်မြတ်ထံသို့ သွားရန် ဖိတ်ခေါ်ခြင်းခံကြရလျှင်၊ ယင်းသို့သွားခြင်းဖြင့် မိမိတို့အဖို့ အကျိုးရှိသည်ဖြစ်စေ၊ အရှုံးရှိသည်ဖြစ်စေ၊ အသို့ပင် ဖြစ်စေကာမူ၊ တစ်မိနစ်၊ တစ်စက္ကန့်မျှ တွန့်ဆုတ်ဆိုင်းငံ့ခြင်းမရှိဘဲ ဖိတ်ခေါ်သံကိုလက်ခံ၍ တမန်တော်မြတ်ထံသို့ အဆုံးအဖြတ်နာယူရန် ကြည်ဖြူစွာ သွားကြပေသည်။ တမန်တော်မြတ်၏ အဆုံးအဖြတ်ကိုလည်း တစ်သွေမတိမ်း၊ ဦးထိပ်ရွက် ပန်ဆင်ကြပေသည်။ ဤသို့ အမှန်တရားကို ရဲဝံ့စွာ ရင်ဆိုင်ရဲသောသူများသည် ဤပစ္စက္ခတွင်သာမက နောင်တမလွန်ဘဝတွင်လည်း အောင်ကြပေမည်။ အဘယ်ကြောင့်ဆိုသော် အကြင်သူတစ်ဦးသည် အလ္လာဟ်အရှင်မြတ်နှင့် တမန်တော်မြတ်၏ အမိန့်တော်မြတ်ကို နာခံအံ့၊ ထိုအရှင်မြတ်အား ကြောက်ရွံ့ရိုသေခန့်ညားအံ့၊ ထိုအရှင်မြတ်အား သွေဖည်ဆန့်ကျင်ခြင်းမှ ရှောင်ကြဉ်အံ့၊ ထိုသို့သော သူသည် နှစ်ဘဝစလုံးတွင် အောင်မြင်သာတည်း။

وَمَنْ يُّطِعِ اللّٰهَ وَرَسُوْلَهٗ وَيَخْشَ اللّٰهَ وَيَتَّقْهِ فَاُولٰٓئِكَ هُمُ الْفَآئِزُوْنَ ﴿٥٢﴾

၅၂။ စင်စစ်သော်ကား မည်သူမဆို အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်များကိုလည်းကောင်း၊ ထိုအရှင်မြတ်၏ ရစူလ်တမန်တော်မြတ်၏ အမိန့်တော်များကိုလည်းကောင်း၊ လိုက်နာပါမူ ထို့ပြင် ထိုသူသည် အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ပါမူ ထိုမှတပါး ထိုသူသည် အရှင်မြတ်(၏ အမိန့်တော်များကိုဖီဆန်ခြင်းမှ) ရှောင်ကြဉ်ပါမူ ထိုကဲ့သို့သော သူတို့သည်သာလျှင် အလိုဆန္ဒ ပြည့်ဝသူများ ဖြစ်ကြကုန်အံ့သတည်း။

وَاَقْسَمُوْا بِاللّٰهِ جَهْدَ اَيْمَانِهِمْ لَئِنْ اَمَرْتَهُمْ لَيَخْرُجُنَّ ۗ قُلْ لَّا تُقْسِمُوْا ۚ طَاعَةٌ مَّعْرُوْفَةٌ ۗ اِنَّ اللّٰهَ خَبِيْرٌۢ بِمَا تَعْمَلُوْنَ ﴿٥٣﴾

၅၃။ ထိုမှတပါး ၎င်းတို့သည် အလ္လာဟ်အရှင်မြတ်အား အစွမ်းကုန်တိုင်တည်ပြီးအကယ်၍ အသင်သည် ၎င်းတို့အားအမိန့်ပေးခဲ့ပါလျှင် မုချစင်စစ်၎င်းတို့သည် (အိုးအိမ်စည်းစိမ်တို့ကို စွန့်၍) ထွက်ကြပါမည်ဟု အစွမ်းကုန် ကျိန်တွယ် ပြောဆိုကြကုန်၏။ (အိုနဗီတမန်တော်) အသင်သည် (၎င်းတို့အား ဤသို့) ပြောကြားပါလေ။ (အချင်းတို့) အသင်တို့သည် မကျိန်တွယ်ကြကုန်လင့်။ (အသင်တို့၏) အမိန့်နာခံခဲ့မှုသည် ထင်ရှားပြီးဖြစ်သည်။

တစ်နည်း:-အသင်တို့အပေါ်၌ စည်းကမ်းနှင့် လျော်ညီစွာ အမိန့်နာခံရန်သာ ရှိပေသည်။ မလွဲဧကန် အလ္လာဟ်အရှင်မြတ်သည် အသင်တို့ ပြုလုပ်လျက်ရှိကြသည်တို့ကို ကောင်းစွာ သိတော်မူသောအရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။ [၁]

---

(၁) **မုနာဖစ်က်တို့၏ ကျိန်တွယ်မှု။**

မုနာဖစ်က်များသည် တမန်တော်မြတ်အား ၎င်းတို့နှင့်ပတ်သက်၍ ယုံကြည်စိတ်ချစေရန် အလို့ငှာ အလ္လာဟ်အရှင်မြတ်အား တိုင်တည်၍ "တမန်တော်မြတ်သည် အကယ်၍ ကျွန်တော်တို့အား အမိန့်ပေးတော်မူပါလျှင်၊ ကျွန်တော်တို့သည် မိမိတို့၏ အိုးအိမ်၊ တိုက်တာ၊ ဂေဟာကိုပင် စွန့်လွှတ်၍ အလ္လာဟ်အရှင်မြတ်၏ လမ်းတော်တွင် ထွက်လာကြရန် အသင့်ရှိကြပါသည်"။ တစ်နည်း:- 'တမန်တော်မြတ်သည် ကျွန်တော်တို့အား အနည်းငယ်မျှပင် အရိပ်အယောင်ပြတော် မူလိုက်ပါလျှင်၊ ကျွန်တော်တို့သည် မိမိတို့၏ ဥစ္စာပစ္စည်း ➤➤

قُلْ أَطِيعُوا اللَّهَ وَأَطِيعُوا الرَّسُولَ ۖ فَإِن تَوَلَّوْا فَإِنَّمَا عَلَيْهِ مَا حُمِّلَ وَعَلَيْكُم مَّا حُمِّلْتُمْ ۖ وَإِن تُطِيعُوهُ تَهْتَدُوا ۚ وَمَا عَلَى الرَّسُولِ إِلَّا الْبَلَاغُ الْمُبِينُ ﴿٥٤﴾

၅၄။ (အို-နဗီတမန်တော်)အသင်သည်(၎င်းတို့အား ဤသို့) ပြောကြားပါလေ၊ (အချင်းတို့၊) အသင်တို့သည် အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်များကို လိုက်နာကြလေကုန်။ ထိုနည်းတူစွာ အသင်တို့သည် ရစူလ်တမန်တော်မြတ်၏ အမိန့်တော်များကိုလည်း လိုက်နာကြလေကုန်။ ထို့နောက် အကယ်၍ အသင်တို့သည် ရှောင်ကြဉ်ခဲ့ကြလျှင် ထိုရစူလ်တမန်တော်မြတ်အပေါ်၌ မိမိတာဝန်ပေးခြင်း ခံခဲ့ရသည်နှင့်အညီ (အမိန့်တော်များကို ပို့ဆောင်ရန်သာ) ရှိပေသည်။ ထိုနည်းတူစွာ အသင်တို့အပေါ်၌လည်း *မိမိတို့တာဝန်ပေးခြင်းခံခဲ့ကြရသည်နှင့်အညီ (အမိန့်တော်များကိုလည်း လိုက်နာရန်သာ) ရှိပေသည်။* ၁

---

➤➤ အားလုံးကိုပင် အလ္လာဟ်အရှင်မြတ်၏လမ်းတော်၌ လှူဒါန်းစွန့်ကြဲရန် အသင့်ရှိကြပါသည်'ဟု အားပါးတရ ကျိန်တွယ်ပြောဆို ကြလေသည်။

သို့ကျိန်တွယ် ပြောဆိုကြသည်နှင့် စပ်လျဉ်း၍ မိန့်ဆိုထားတော်မူသည်မှာ 'အသင်တို့သည် ဤရွေ့ဤမျှ ကျိန်တွယ်ပြောဆိုရန်မလို၊ အမိန့်တော်များကို အသင်တို့အဘယ်မျှ နာယူကျင့်မူကြသည်မှာ သူငါအများ အသိပင်။ အသင်တို့သည် အမိန့်တော်များကို နာခံကြပါမည့်အကြောင်း နှုတ်ဖြင့်အဘယ်မျှပင် ထုတ်ဖော်ပြောဆိုကြသော်လည်း လက်တွေ့ လိုက်နာကျင့်သုံးရမည့်အချိန်တွင်မူ သွေဖည်၊ကျောခိုင်း၍ သွားကြသည်သာဖြစ်သည်။ အသင်တို့သည် နှုတ်မှ တဖွားဖွား ကျိန်တွယ်နေကြမည့်အစား အခြားရိုးသားဖြောင့်မှန်သော မွတ်စ်လင်မ်များ လိုက်နာကျင့်မူကြသကဲ့သို့ လက်တွေ့လိုက်နာကျင့်မူပြသရန်သာလိုပေသည်။ အလုပ်မပါဘဲ နှုတ်ဖြင့် ကျိန်တွယ်နေခြင်းသည် မည်သို့မျှ အကျိုးမရှိပေ။ အသင်တို့သည် လူသားတို့အား ကျိန်တွယ်၍ လိမ်လည်လှည့်ဖြားနိုင်ကောင်း လှည့်ဖြားနိုင်ကြပေမည်။ သို့ရာတွင် အသင်တို့၏ လိမ်လည်လှည့်ဖြားမှုသည် အလ္လာဟ်အရှင်မြတ်ထံတော်တွင် အသို့မျှ အသုံးဝင်သည် မဟုတ်ပေ။ ထိုအရှင်မြတ်သည် အသင်တို့ပြုလုပ်သမျှကို အကြွင်းမဲ့ သိတော်မူသော အရှင်ဖြစ်တော်မူသည်။ သို့ဖြစ်ပေရာ ထိုအရှင်မြတ်သည် အသင်တို့၏ လိမ်လည်လှည့်ဖြားမှု၊ အယောင်ဆောင်မှုများကို ဟုတ်မှန်ရာအတိုင်း ထုတ်ဖော်၍ ပြစ်ဒဏ်ပေးတော်မူမည်ဖြစ်သည်'။

**(၁) တာဝန်ကျေပွန်ပါစေ။**

မုနာဖစ်က်များအား ဆက်လက်၍ မိန့်ဆိုထားတော်မူသည်မှာ တမန်တော်မြတ်၌လည်း တာဝန်ရှိသည် အသင်တို့၌လည်း တာဝန်ရှိသည်။ တမန်တော်မြတ်၏ တာဝန်မှာ အလ္လာဟ်အရှင်မြတ်ထံတော်မှ ထုတ်ပြန်ပို့ချတော်မူသော တရားတော်များကို လူသားတို့အား မှန်ကန်တိကျစွာ ဟောကြားရန်သာဖြစ်သည်။ တမန်တော်မြတ်သည် မိမိ၏တာဝန်ကို မှန်ကန်တိကျ ပြတ်သားစွာ ထမ်းဆောင်ပြီးချေပြီ။ အသင်တို့၏တာဝန်မှာ ယင်းသည့်တရားတော်များကို ယုံကြည်ထောက်ခံ၍ တမန်တော်မြတ် ဟောညွှန်ပြသည့်အတိုင်း လက်တွေ့လိုက်နာ ကျင့်သုံးရန်ပင် ➤➤

၎င်းပြင် အကယ်၍ အသင်တို့သည် ထိုရစူလ် တမန်တော်မြတ်၏အမိန့်တော်များကို လိုက်နာကြလျှင်၊ အသင်တို့သည် တရားလမ်းမှန်ကို ရရှိကြပေမည်။ စင်စစ်သော်ကား ရစူလ်တမန်တော်မြတ်၏ အပေါ်၌မူကား (ငါအရှင်မြတ်၏အမိန့်တော်များကို) ထင်ရှားပြတ်သားစွာ ပို့ဆောင်ခြင်းမှအပ အခြားမည်သည့် တာဝန်မျှ မရှိချေ။

၅၅။ အလ္လာဟ်အရှင်မြတ်သည် အသင်တို့အနက် အီမာန်သက်ဝင်ယုံကြည်ပြီး ကောင်းမြတ်သော အကျင့်သီလများကို ကျင့်မူဆောက်တည်ကြကုန်သော သူတို့အား (ဤသို့)ကတိပေးတော်မူသည်။ ထိုအရှင်မြတ်သည်၎င်းတို့အလျင်ရှိခဲ့ကြကုန်သောသူတို့အား (ကမ္ဘာမြေဝယ်) အုပ်ချုပ်စေတော်မူခဲ့သည့်နည်းတူ ၎င်းတို့အားလည်း အုပ်ချုပ်စေတော်မူမည်။ ထို့ပြင် ၎င်းတို့အဖို့ မိမိနှစ်သက်တော်မူသော (အစ္စလာမ်)သာသနာတော်ကို ၎င်းတို့အကျိုးငှာ မြဲမြံခိုင်ခံ့စေတော်မူမည်။ ထို့ပြင် ငါအရှင်မြတ်သည် ၎င်းတို့အား ၎င်းတို့၏ စိုးရိမ်မှုနောက်တွင် *ငြိမ်းချမ်းမှုကို ပြောင်းလဲ၍ ပေးတော်မူမည်။* [၁]

وَعَدَ اللّٰهُ الَّذِيْنَ اٰمَنُوْا مِنْكُمْ
وَعَمِلُوا الصّٰلِحٰتِ
لَيَسْتَخْلِفَنَّهُمْ فِى الْاَرْضِ كَمَا
اسْتَخْلَفَ الَّذِيْنَ مِنْ قَبْلِهِمْ
وَلَيُمَكِّنَنَّ لَهُمْ دِيْنَهُمُ الَّذِى
ارْتَضٰى لَهُمْ وَلَيُبَدِّلَنَّهُمْ مِّنْۢ بَعْدِ
خَوْفِهِمْ اَمْنًا يَعْبُدُوْنَنِىْ

➤➤ ဖြစ်သည်။ အကယ်၍ အသင်တို့သည် ယင်းသည့်တရားတော်များကို တမန်တော်မြတ် ဟောညွှန်ပြသည့်အတိုင်း တာဝန်သိသိ၊ သစ္စာရှိရှိ၊ ကြည်ကြည်ဖြူဖြူ လိုက်နာကျင့်သုံးကြပါမူ အသင်တို့သည် နှစ်ဘဝစလုံး၏ အောင်မြင်ကြောင်းတရားကိုရရှိပြီး နှစ်ဘဝစလုံးတွင် ဝမ်းသာမဆုံးဖြစ်ကြရပေမည်။ သို့မဟုတ်ပါမူ တမန်တော်မြတ်၌ မည်သို့မျှ ဆုံးရှုံးမှုမရှိ၊ အသင်တို့သာလျှင် မိမိတို့၏ တာဝန်ပျက်ကွက်မှု၊ ဆိုးသွမ်းမှု၊ မိုက်မဲသွေဖည်မှုများ၏ ပြစ်ဒဏ် အလူးအလိမ့်ခံကြရမည်ဖြစ်သည်။

တာဝန်နှင့် အခွင့်အရေးသည် ဒွန်တွဲလျက်ရှိသည်။ တာဝန်ကျေပွန်က၊ အခွင့်အရေးရသည်။ တာဝန်ပျက်ကွက်က အခွင့်အရေးမရ၊ တာဝန်မကျေပွန်ဘဲ အခွင့်အရေးတောင်းခြင်းသည် ကိုယ့်ကိုယ်ကို လှည့်ဖြားခြင်းပင်။

(၁) **အလ္လာဟ်အရှင်မြတ်၏ ကတိတော်။**

ဤအာယတ်တော်တွင် တမန်တော်မြတ်လက်ထက်ရှိ အမှန်တကယ်အီမာန် ယုံကြည်ကြကုန်သော➤➤

لَا يُشْرِكُونَ بِي شَيْـًٔا ۚ وَمَن كَفَرَ بَعْدَ ذَٰلِكَ فَأُولَٰٓئِكَ هُمُ الْفَٰسِقُونَ ﴿٥٥﴾

(အကယ်၍) ၎င်းတို့သည် တစ်စုံတစ်ရာကို ငါအရှင်မြတ်နှင့် တွဲဖက်ကိုးကွယ်ခြင်းမပြုဘဲ ငါ အရှင်မြတ်အားသာလျှင် ကိုးကွယ်ဆည်းကပ် နေကြပါလျှင်၊ စင်စစ်သော်ကား မည်သူမဆို ထိုသည့် နောက်တွင် ကျေးဇူးကန်းခဲ့သည်ရှိသော်၊ ယင်းကဲ့သို့ သူတို့သည်သာလျှင် *အမိန့်တော်ကို ဖီဆန်သူများ ဖြစ်ကြကုန်သတည်း။* ၁

---

➤➤ ကောင်းမြတ်သော အကျင့်သီလများ ဆောက်တည်ကြကုန်သော၊ တမန်တော်မြတ်၏ အမိန့်တော်များကို တစ်သွေမတိမ်း လိုက်နာကြကုန်သော မုအ်မင်န် စစ်စစ်တို့အား ရည်ညွှန်း၍ ၎င်းတို့အား တမန်တော်မြတ်၏ နောက်တွင် တိုင်းပြည်အုပ်ချုပ်မှုအာဏာ ချီးမြှင့်တော်မူမည့် အကြောင်း၊

မိမိ နှစ်သက်တော်မူသော အစ္စလာမ် သာသနာတော်ကို ၎င်းတို့ဖြင့်၊ ကမ္ဘာတွင် ရပ်တည် ထွန်းကားစေတော် မူမည့်အကြောင်း၊

ထိုအချိန်တွင် ၎င်းတို့သည် ကာဖိရ်များအား စိုးရိမ်နေကြရတော့မည် မဟုတ်ကြောင်း၊

ကိုယ်စိတ်နှစ်ဖြာ ကျန်းမာချမ်းသာစွာဖြင့် အလ္လာဟ်အရှင်မြတ်အား ဝတ်ပြုနိုင်ကြတော့မည်ဖြစ်ကြောင်း၊

ထိုအရှင်နှင့် ယှဉ်တွဲ၍ မည်သည့်အရာကိုမျှ တွဲဖက်ကိုးကွယ်ကြတော့မည် မဟုတ်ကြောင်း၊ ကတိပြုထားတော်မူသည်။ အဆိုပါ ကတိတော်သည် ခလီဖဟ် သမ္မတကြီးလေးပါး လက်ထက်တွင် အတည်ဖြစ်ခဲ့ချေပြီ။ ဤကား ကမ္ဘာ့သမိုင်းစဉ်တွင် အထင်အရှားပင်။

အဆိုပါ ခလီဖဟ်သမ္မတကြီးလေးပါး နောက်တွင်လည်း ထိုသို့သော ခလီဖဟ်သမ္မတများ ပေါ်ထွန်းခဲ့ကြပေသည်။ အလိုတော်ရှိပါက နောင်တွင်လည်း ထိုသို့သော ခလီဖဟ် သမ္မတများ ပေါ်ထွန်းကြပေမည်။

ဟဒီးဆ်တော်များအရ ခလီဖဟ် သမ္မတများတွင် နောက်ဆုံးခလီဖဟ်မှာ အေမာမ် မဟ်ဒီသခင် ဖြစ်သည်။ အေမာမ်မဟ်ဒီသခင်သည် ကမ္ဘာတွင် အစ္စလာမ် တရားတော်နှင့်အညီ စံမတူအောင် တရားမျှတစွာ အုပ်ချုပ်မည်။ ထိုသခင်လက် ထက်တွင် မတရားမှုဟူ၍ စိုးစဉ်းမျှပင် ကျန်ရှိမည်မဟုတ်၊ တရားမျှတမှုချည်းသာ ရှိပေမည်။

(၁) အလ္လာဟ်အရှင်မြတ်၏ ကတိတော်အရ ယင်းသို့ကြီးမားသော ကျေးဇူးတော်များကို တွေ့မြင်ရပြီးသည့် နောက်သော်မှပင် တစ်ဦးတစ်ယောက်သည် ကျေးဇူးကန်းပါက ထိုသို့သောသူများသည် အလွန်အလွန် ဆိုးသွမ်း မိုက်မဲ သွေဖည်သူများသာ ဖြစ်ကြပေမည်။ ကျေးဇူးသည် ကြီးငယ်မဟူ ကျေးဇူးပင်ဖြစ်သည်။ ကျေးဇူးမကန်းရာ၊ ငယ်သောကျေးဇူးကိုလည်း ကျေးဇူးမကန်းရပေရာ၊ ကြီးမားသော ကျေးဇူးတော်များကိုမူ အသို့လျှင် ကျေးဇူးကန်းရာသတည်း။

**မှတ်ချက်။**

ခလီဖဟ် မွတ်စ်လင်မ်သမ္မတများသည် လောကီဆိုင်ရာ အခြားဘုရင်များနှင့် မတူကြပေ။ ၎င်းတို့သည် တမန်တော်မြတ်၏ အရိုက်အရာကို ဆက်ခံသူများအနေနှင့် အလ္လာဟ်အရှင်မြတ်၏အစိုးရကိုသာ ကြေညာကြပေမည်။ မှန်ကန်သော အစ္စလာမ်၏အခြေခံများကို ခိုင်မြဲအောင် ပြုလုပ်ကြပေမည်။

၅၆။ ထို့ပြင် အသင်တို့သည် 'ဆွလာတ်' ဝတ်ပြုမှုကိုဆောက်တည်ကြလေကုန်။ ၎င်းပြင် အသင်တို့သည် 'ဇကာတ်'ပေးကြလေကုန်။ ထိုမှတပါး အသင်တို့သည် ရစူလ်တမန်တော်မြတ်၏အမိန့်ကို လိုက်နာကြလေကုန်။ သို့မှသာလျှင် အသင်တို့သည် *သနားကရုဏာပြုတော်မူခြင်းကို ခံကြရပေမည်။* ၁

وَأَقِيمُوا الصَّلَوٰةَ وَءَاتُوا الزَّكَوٰةَ وَأَطِيعُوا الرَّسُولَ لَعَلَّكُمْ تُرْحَمُونَ ﴿٥٦﴾

၅၇။ အသင်သည် ကာဖိရ် သွေဖည်ငြင်းပယ်သောသူတို့ကို (၎င်းတို့သည် ငါအရှင်မြတ်အား) ကမ္ဘာမြေ ဝယ်မစွမ်းဆောင်နိုင်အောင် ပြုနိုင်ကြမည်ဟု အလျှင်း မထင်မှတ်လေနှင့်။ အမှန်စင်စစ် ၎င်းတို့၏ ခိုလှုံရာဌာနမှာငရဲမီးပင်ဖြစ်ပေသည်။ စင်စစ်သော်ကား ယင်း *ငရဲမီးသည် အလွန်တရာ ဆိုးရွားလှသောစခန်းပင် ဖြစ်ပေသတည်း။* ၂

لَا تَحْسَبَنَّ الَّذِينَ كَفَرُوا مُعْجِزِينَ فِي الْأَرْضِ ۚ وَمَأْوَاهُمُ النَّارُ ۖ وَلَبِئْسَ الْمَصِيرُ ﴿٥٧﴾

၅၈။ အို-'မုအ်မင်န်' သက်ဝင် ယုံကြည်သူအပေါင်းတို့၊ အသင်တို့၏ ကျွန်-ကျွန်မများသည်လည်းကောင်း၊အသင်တို့အနက် အရွယ်မရောက်ကြသေးသော ယောကျ်ားကလေးများသည်လည်းကောင်း၊ (အသင်တို့ အိမ်များတွင်ဝင်ထွက်သွားလာရန်အလို့ငှာ) အချိန်သုံးချိန်တွင် အသင်တို့ထံ ခွင့်တောင်းကြရမည်။

يَٰٓأَيُّهَا الَّذِينَ ءَامَنُوا لِيَسْتَـْٔذِنكُمُ الَّذِينَ مَلَكَتْ أَيْمَٰنُكُمْ وَالَّذِينَ لَمْ يَبْلُغُوا

---

① အထက်တွင် (အီမာန်) ယုံကြည်မှုနှင့် (အမလ် ဆွာလိဟ်) ကောင်းမြတ်သော အကျင့်သီလဆောက်တည်မှု၏ အကျိုးများကို ကြားသိရှိရပြီးဖြစ်ရာ မွတ်စ်လင်မ်များသည် အချိန်မှန်စွာ ဆွလာတ် ဝတ်ပြုကြရမည်။ အတိအကျ ဇကာတ်ပေးဆောင်ကြရမည်။ အမိန့်တော်များကို တစ်သွေ မတိမ်း လိုက်နာကြရပေမည်။ သို့မှသာလျှင် မွတ်စ်လင်မ်များသည် အလ္လာဟ်အရှင်မြတ်၏ ကရုဏာတော်များကို အပြည့်အဝ ခိုလှုံကြရပေမည်။

② အထက်တွင် အလ္လာဟ်အရှင်မြတ်၏ ကရုဏာတော်ကို ခိုလှုံကြရသော သူတော်စင်များ၏ အကြောင်း ပါရှိသည်။ ယခု ဤအာယတ်တော်တွင် အမျက်တော် စူးရှခြင်းခံကြရသော ကာဖိရ်သူယုတ်တို့၏ အကြောင်းကို မိန့်ဆိုထားတော်မူသည်။ ယင်းကာဖိရ် သူယုတ်မာတို့သည် တိုင်းပြည်တွင် ခေတ္တခဏရရှိထားသော အခွင့်အာဏာကို အလွဲသုံးစားပြုကာ အမျိုးမျိုးကျူးကျော် စော်ကားကြသည်။ ဆိုးသွမ်း မိုက်ကန်းကြသည်။ ပြီးနောက် အလ္လာဟ် အရှင်မြတ်၏ ပြစ်ဒဏ်တော်မှ လွတ်မြောက်ရန် အမျိုးမျိုးကြိုးစားကြသည်။ ကြံစည်အားထုတ်ကြသည်၊ ➤➤

ٱلْحُلُمَ مِنكُمْ ثَلَٰثَ مَرَّٰتٍ ۚ مِّن قَبْلِ صَلَوٰةِ ٱلْفَجْرِ وَحِينَ تَضَعُونَ ثِيَابَكُم مِّنَ ٱلظَّهِيرَةِ وَمِنۢ بَعْدِ صَلَوٰةِ ٱلْعِشَآءِ ۚ ثَلَٰثُ عَوْرَٰتٍ لَّكُمْ ۚ لَيْسَ عَلَيْكُمْ وَلَا عَلَيْهِمْ جُنَاحٌۢ

'ဖဂျ်ရ် ဆွလာတ်' အလျင် (တစ်ချိန်)၊ အသင်တို့သည် မိမိတို့၏ အဝတ်အစားများကိုချွတ်၍ ထားလေ့ရှိကြသော နေ့လယ်အချိန်၌(တစ်ချိန်)နှင့် 'အိရှာအ် ဆွလာတ်'အပြီး၌(တစ်ချိန်၊ ဤ)သုံးချိန်ကား *အသင်တို့၏အရှက်လစ်လပ်ချိန်များတည်း။* ၁

(သို့ရာတွင်) ထို(သုံးချိန်)မှအပ (အခြားအချိန်များတွင်မူကား ခွင့်မတောင်းဘဲ ဝင်ထွက်သွားလာခြင်းကြောင့်) အသင်တို့အပေါ်၌လည်းကောင်း၊ ထိုသူတို့အပေါ်၌လည်းကောင်း၊ မည်သို့မျှ အပြစ်မရှိချေ။

---

➤➤ မည်သို့ပင် ကြံစည်ကြသော်လည်း ၎င်းတို့၏ ကြံစည်မှုသည် အချည်းနှီးပင်၊ နောက်ဆုံးတွင် ၎င်းတို့သည် မိမိတို့၏ ကျူးကျော်စော်ကား မိုက်မှားမှုများကြောင့် ငရဲသို့ လားကြရမည်သာတည်း။

(၁) **<u>အိမ်တွင် ဝင်ထွက် သွားလာနေသူများပင်လျှင် အချို့အချိန်များတွင် အိမ်တွင်းသို့ဝင်ရန် ခွင့်ပန်ကြရမည်။</u>**

ကုရ်အာန်ကျမ်းမြတ် (၂၄:၂၇-၂၉) တွင် လွတ်လပ်သူများ၊ အရွယ်ရောက်ပြီးသူများအား သူတစ်ပါး အိမ်သို့ဝင်ရန် ခွင့်ပန်ကြရမည့် အကြောင်းပါရှိ၏။ ယခုဤအာယတ်တော်တွင် အိမ်တွင် အမြဲတစေ ဝင်ထွက် သွားလာနေကြသော ကျွန်မိန်းမ၊ ကျွန်ယောကျ်ားနှင့် အရွယ်မရောက်သေးသော ယောကျ်ားကလေးများသည် ပင်လျှင် အချို့အချိန်များတွင် အိမ်တွင်းသို့ ဝင်လိုသည့်အခါ ခွင့်ပန်ကြရမည့် အကြောင်း မိန့်ဆိုထားတော်မူသည်။

လူများသည် များသောအားဖြင့် ဖဂျ်ရ်ဆွလာတ် မတိုင်မီအချိန်၊ နေ့လည်အချိန်နှင့် အီရှာအ်ဆွလာတ်ပြီး ချိန်များတွင် အပန်းဖြေလိုကြသည်။ လွတ်လပ်စွာနေလိုကြသည်။ အပိုအဝတ်အထည်များကို ချွတ်ထားလေ့ရှိကြသည်။ မိမိတို့၏ ဇနီးများနှင့် လွတ်လပ်စွာ နေလေ့ရှိကြသည်။ တစ်ခါတစ်ရံ လူများသည် ဖဂျ်ရ်ဆွလာတ် မတိုင်မီအချိန်၊ သို့မဟုတ် နေ့လည်အချိန်တွင် ရေချိုးလိုကြသည်၊ သို့မိမိတို့ ရေချိုးသည်ကိုလည်း သူတစ်ပါးအား မသိစေလိုကြပေ။

ထို့အတွက် အထက်ဖော်ပြပါ အချိန်များတွင် အိမ်တွင်း၌ ဝင်ထွက်သွားလာနေကြသော ကျွန်ယောကျ်ား၊ ကျွန်မိန်းမများနှင့် အရွယ်မရောက်သေးသော ယောကျ်ားကလေးများသည်ပင်လျှင် အိမ်တွင်းသို့ ဝင်လိုကြသည့် အခါ ခွင့်ပန်ကြရမည် ဖြစ်သည်။ အခြားအချိန်များတွင် ခွင့်ပန်ရန်မလိုပေ။ (ဤသည်ကို ထောက်ရှုခြင်းအားဖြင့် "အစ္စလာမ်သည် ပိရိစွာနေထိုင်မှု၊ ကျစ်လျစ်စွာနေထိုင်မှု' ဖုံးကွယ်ထားအပ်သည့် ကိုယ်ခန္ဓာအစိတ်အပိုင်းများကို ဖုံးကွယ်ထားမှု၊ ကာယိန္ဒြေရှိမှုများကို အဘယ်မျှ လိုလားသည်ကို ကောင်းစွာ သိရှိနိုင်ပေသည်။

အထက်ဖော်ပြပါ အချိန်သုံးချိန်မှာ သူငါအများ လွတ်လပ်စွာ နေလေ့ရှိသော အချိန်များသာဖြစ်သည်။ ထိုအချိန် သုံးချိန်တွင်သာ အခွင့်ပန်ကြားရမည်ဟု မဆိုလို။ အကယ်၍ တိုင်းပြည်တစ်ပြည်တွင် မိမိတို့၏ အလေ့အထ ယဉ်ကျေးမှုအရသော် လည်းကောင်း၊ အခြေအနေအရသော် လည်းကောင်း၊ မည်သည့်အချိန်တွင်မဆို လွတ်လပ်စွာ နေထိုင်ကြပါက၊ ယင်းသည့်အချိန်များတွင် အိမ်တွင်းသို့ဝင်ရန် ခွင့်ပန်ကြားရမည်သာဖြစ်သည်၊ ➤➤

بَعۡدَهُنَّ ۚ طَوّٰفُوۡنَ عَلَيۡكُمۡ بَعۡضُكُمۡ عَلٰى بَعۡضٍ ؕ كَذٰلِكَ يُبَيِّنُ اللّٰهُ لَكُمُ الۡاٰيٰتِ ؕ وَاللّٰهُ عَلِيۡمٌ حَكِيۡمٌ ﴿۵۸﴾

ၾငင်းတို့သည် အသင်တို့ထံ များစွာ ဝင်ထွက်သွားလာသူများ ဖြစ်ကြပေသည်။ အသင်တို့အနက် တစ်ဦးသည် တစ်ဦး၏ထံသို့ (ဝင်ထွက်သွားလာသူများသာ ဖြစ်ကြကုန်၏)။ အလ္လာဟ်အရှင်မြတ်သည် ဤနည်းအတိုင်းပင် အမိန့်ပညတ်တော်များကို အသင်တို့အကျိုးငှာ ထုတ်ဖော် မိန့်ကြားတော်မူလေသည်။ အမှန်သော်ကား အလ္လာဟ်အရှင်မြတ်သည် အရာခပ်သိမ်းတို့ကို အကြွင်းမဲ့သိတော်မူသော ကျိုးကြောင်းဆင်ခြင်တုံတရားနှင့် ပြည့်စုံတော်မူသောအရှင်မြတ်ပင် ဖြစ်တော်မူပေသည်။

وَاِذَا بَلَغَ الۡاَطۡفَالُ مِنۡكُمُ الۡحُلُمَ فَلۡيَسۡتَاۡذِنُوۡا كَمَا اسۡتَاۡذَنَ الَّذِيۡنَ مِنۡ قَبۡلِهِمۡ ؕ كَذٰلِكَ يُبَيِّنُ اللّٰهُ لَكُمۡ اٰيٰتِهٖ ؕ وَاللّٰهُ عَلِيۡمٌ حَكِيۡمٌ ﴿۵۹﴾

၅၉။ သို့ရာတွင် အသင်တို့အနက်မှ ယောကျ်ားကလေးများသည်အရွယ်ရောက်လာခဲ့ကြသော်၊ ၎င်းတို့သည်လည်း မိမိတို့အလျင် ခွင့်တောင်းခဲ့ကြသောသူများနည်းတူ *ခွင့်တောင်းကြရပေမည်*။ [၁] အလ္လာဟ်အရှင်မြတ်သည်ဤနည်းနှင်နှင် မိမိအမိန့်ပညတ်တော်များကို အသင်တို့အကျိုးငှာ ထုတ်ဖော်မိန့်ကြားတော်မူလေသည်။ စင်စစ်မူကား အလ္လာဟ်အရှင်မြတ်သည် အရာခပ်သိမ်းတို့ကို အကြွင်းမဲ့ သိတော်မူသော၊ ကျိုးကြောင်း ဆင်ခြင်တုံတရားနှင့် ပြည့်စုံတော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

---

➤➤ ထို့အတူ ပုဂ္ဂိုလ်တစ်ဦးသည် အကြောင်းတစ်ရပ်ရပ်ကြောင့် အခြားအချိန်များတွင်၊ ဝင်ခွင့်ပန်ကြားရန် သတ်မှတ်ထားပါက သတ်မှတ်ထားသည့် အချိန်တွင် ခွင့်ပန်ကြားရမည်သာ ဖြစ်သည်။

(၁) **အရွယ်ရောက်က ခွင့်ပန်ရ။**

အရွယ်မရောက်သေးသော ယောကျ်ားကလေးများသည် အရွယ်ရောက်လာကြပါက ၎င်းတို့သည်လည်း ကုရ်အာန် (၂၄း၂၇)တွင် လာရှိသည့်အတိုင်း၊ အိမ်တွင်းသို့ဝင်ရန် လူကြီးများအားခွင့်ပန်ကြရမည် ဖြစ်သည်။

وَالْقَوَاعِدُ مِنَ النِّسَاءِ الّٰتِيْ لَا يَرْجُوْنَ نِكَاحًا فَلَيْسَ عَلَيْهِنَّ جُنَاحٌ أَنْ يَّضَعْنَ ثِيَابَهُنَّ غَيْرَ مُتَبَرِّجٰتٍ ۢبِزِيْنَةٍ ۖ وَأَنْ يَّسْتَعْفِفْنَ خَيْرٌ لَّهُنَّ ۖ وَاللّٰهُ سَمِيْعٌ عَلِيْمٌ ﴿٦٠﴾

၆၀။ ၎င်းပြင် ထိမ်းမြားရန် မျှော်လင့်ချက်မရှိကြသော အဖွားအိုများသည် လှပမှုကို ဖော်ပြခြင်းမပြုဘဲ မိမိတို့၏(အပို)အဝတ်များကို ချွတ်ထားခြင်းကြောင့် ၎င်းတို့အပေါ်၌ အပြစ်တစ်စုံတစ်ရာမျှ မရှိချေ။ သို့တစေလည်း ၎င်းတို့သည် (ဤသည်မှ) ရှောင်ကြဉ်ကြလျှင် ၎င်းတို့အဖို့ အကောင်းဆုံးပင်။ [၁] စင်စစ်သော်ကား အလ္လာဟ်အရှင်မြတ်သည် အရာခပ်သိမ်းတို့ကို အကြွင်းမဲ့ကြားတော်မူသော၊ အရာခပ်သိမ်းတို့ကို အကြွင်းမဲ့သိတော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

لَيْسَ عَلَى الْأَعْمٰى حَرَجٌ وَّلَا عَلَى الْأَعْرَجِ حَرَجٌ وَّلَا عَلَى الْمَرِيْضِ حَرَجٌ وَّلَا عَلٰٓى أَنْفُسِكُمْ أَنْ

၆၁။ မျက်ကန်း၏အပေါ်၌လည်း တစ်စုံတစ်ရာ တားမြစ်ခြင်းမရှိချေ။ ခြေမစွမ်းမသန်သောသူ၏အပေါ်၌လည်း တစ်စုံတစ်ရာ တားမြစ်ခြင်း မရှိချေ။ မကျန်းမမာသောသူ၏အပေါ်၌လည်း တစ်စုံတစ်ရာ တားမြစ်ခြင်းမရှိချေ။ အသင်တို့ကိုယ်တိုင် အပေါ်၌လည်း (တစ်စုံတစ်ရာ တားမြစ်ခြင်း) မရှိချေ။ [၂]

---

(၁) **အသက်အရွယ်ကြီး အမယ်ကြီးများသည်ပင် ဇီနတ် အလှ ဖုံးဖိထားကြပါက ပို၍ကောင်းသည်။**

ကာမဂုဏ်စိတ်ကုန်ခန်း၍ ထိမ်းမြားလိုသောစိတ် မရှိတော့သော သက်ကြီးရွယ်ကြီး အမယ်ကြီးများသည် မိမိတို့၏ နေအိမ်များတွင် သာမန်အဝတ်အစား များနှင့်ပင် နေထိုင်နိုင်ကြပေသည်။ သူစိမ်းများရှေ့တွင် သွားလာရာ၌ ပိုမိုလုံခြုံရန်အတွက် ဝတ်ဆင်ရသော အပိုအဝတ်အစားများကို မဝတ်ဆင်ဘဲ နေနိုင်ကြပေသည်။ သက်ကြီး၊ ရွယ်ကြီး၊ အမယ်ကြီးများ အပြင်ထွက်ကြသည့် အခါတွင်လည်း သာမန် အဝတ်အစားများနှင့်ပင် သွားလာနိုင်ကြပေသည်။ ထိုသို့ သာမန်အဝတ်အစားများဖြင့် သွားလာနိုင်ခွင့် ရှိသော်လည်း ကုရ်အာန်ကျမ်းမြတ် (၂၄း၃၁)တွင် ပညတ်ထားတော် မူသည့်အတိုင်း 'ဇီနတ်' အလှကိုမူ မပေါ်လွင်စေကြရ၊ ယင်းသို့ ဇီနတ်ကို မပေါ်လွင်စေဘဲ သာမန် အဝတ်အစားများဖြင့် သွားလာခွင့်ရှိငြားသော်လည်း 'ဟိဂျာဗ်' ပရ်ဒဟ်ကို ဝတ်ရုံကြပါက ၎င်းတို့အဖို့မှာလည်း၊ ပို၍ပင် ကောင်းပေသည်။ ဤသည်ကို ထောက်ရှုခြင်းအားဖြင့် ပျိုရွယ်သောအမျိုးသမီးများ၌ 'ဟိဂျာဗ်' ပရ်ဒဟ် ထားရှိရန်မှာ အဘယ်မျှ အရေးကြီးလှသည်ကို ကောင်းစွာ သိရှိနိုင်ပေသည်။

(၂) **ရှောင်ကြဉ်ရာတွင် စည်းကမ်းမလွန်ရ။**

ဤအာယတ်တော်ကို ထုတ်ပြန်ပို့ချတော်မူခြင်း၏ အကြောင်းရင်းများနှင့် စပ်လျဉ်း၍ 'ဒုရ်ရိမန်ဆူရ်' ကျမ်းတွင် အဆိုအမျိုးမျိုး တွေ့ရှိရပေသည်။ ➤➤

تَأْكُلُوا مِنْ بُيُوتِكُمْ
أَوْ بُيُوتِ آبَائِكُمْ أَوْ بُيُوتِ
أُمَّهَاتِكُمْ أَوْ بُيُوتِ إِخْوَانِكُمْ
أَوْ بُيُوتِ أَخَوَاتِكُمْ أَوْ بُيُوتِ
أَعْمَامِكُمْ أَوْ بُيُوتِ عَمَّاتِكُمْ
أَوْ بُيُوتِ أَخْوَالِكُمْ
أَوْ بُيُوتِ خَالَاتِكُمْ أَوْ مَا

မိမိတို့ အိမ်များမှဖြစ်စေ၊ မိမိတို့၏ ဖခင်များ၏ အိမ်များမှဖြစ်စေ၊ မိမိတို့၏မိခင်များ၏ အိမ်များမှဖြစ်စေ၊ မိမိတို့ညီများအစ်ကိုများ၏ အိမ်များမှဖြစ်စေ၊ မိမိတို့၏နှမများအစ်မများ၏ အိမ်များမှဖြစ်စေ၊ မိမိတို့ဘကြီး ဘထွေးများ၏ အိမ်များမှဖြစ်စေ၊ မိမိတို့ အရီးကြီးအရီးကလေးများ၏ အိမ်များမှဖြစ်စေ၊ မိမိတို့ ဦးရီးများ၏ အိမ်များမှဖြစ်စေ၊ မိမိတို့မိကြီး မိထွေးများ၏ အိမ်များမှဖြစ်စေ၊ မိမိတို့ သော့ထိန်းကြရသောအိမ်များမှဖြစ်စေ၊ မိမိတို့ မိတ်ဆွေများ၏ အိမ်များမှဖြစ်စေ၊ အသင်တို့၏စားသုံးခြင်း၌ တစ်စုံတစ်ရာ တားမြစ်ခြင်းမရှိပေ။

---

➤➤ အကျဉ်းသဘောမှာ ဤသို့ဖြစ်သည်။ ယခင်က မဒီနာမြို့သားများသည် အရဗ်အမျိုးသားတို့၏ ဓလေ့ထုံးစံအလျောက် စားရေး၊ သောက်ရေးများတွင် အလွန့်အလွန် လွတ်လွတ်လပ်လပ် ရှိခဲ့ကြသည်။ တစ်ဦးအိမ်မှတစ်ဦး အားမနာတမ်း ဝင်ထွက်စားသောက်လေ့ ရှိခဲ့ကြသည်။ ထိုမျှမက တစ်ခါတစ်ရံ မိမိ၏ ဆွေမျိုးရင်းခြာ အိမ်များသို့၊ တစ်ခါတစ်ရံ မိမိ၏ မိတ်ဆွေအိမ်များသို့ မိမိနှင့်အတူတကွ ဆင်းရဲနွမ်းပါးသူများကိုပင် ခေါ်ဆောင်၍ သွားရောက် စားသုံးလေ့ရှိခဲ့ကြသည်။

ယင်းသို့ အားမနာတမ်း လွတ်လပ်စွာ ဝင်ထွက် စားသောက် ရာတွင် စည်းကမ်းလွန်လာခဲ့ကြပေသည်။ တစ်ခါတစ်ရံ သူတစ်ပါး၏ အခွင့်အရေးများကိုပင် ဆုံးရှုံးပျက်ပြား စေသည်အထိ၊ တစ်ခါတစ်ရံ နိုင်လိုမင်းထက် ပြုကျင့်သည်အထိ ဖြစ်လာခဲ့ပေသည်။ ထိုအခါ ယင်းသို့ စည်းကမ်းလွန်မှုနှင့် နိုင်လိုမင်းထက် ပြုကျင့်မှုကို ပိတ်ပင်တားမြစ်ရန်အတွက် 'အသင်တို့သည် မိမိတို့အချင်းချင်း၏ ဥစ္စာပစ္စည်းများကို မတရားသဖြင့် မစားသုံးကြကုန်လင့်' ဟူသော ကုရ်အာန်ကျမ်းမြတ်လာ အာယတ်တော် (၄:၂၉) ကျရောက်လာခဲ့ပေသည်။

ဤသည့် အာယတ်တော် ကျရောက်လာခဲ့သည့်အခါ ဆွဟာဗဟ်၊ သာဝကကြီးများသည် အလွန် စိုးရိမ်ကြောက်ရွံ့ကာ သူတစ်ပါးအိမ်သို့ သွားရောက်စားသုံးမှုကို အလွန့်အလွန် ရှောင်ကြဉ်လာခဲ့ကြလေသည်။ အိမ်တစ်အိမ်တွင် မိမိ၏စားသုံးမှုနှင့် စပ်လျဉ်း၍ အိမ်ရှင်၏ ကျေနပ်နှစ်သက်မှု ရှိသည်ကို ယုံကြည်ရသော၊ တရားတော်က တားမြစ်ခြင်းလည်း တစ်စုံတစ်ရာ မရှိသော အိမ်မျိုး၌ပင်လျှင် အိမ်ရှင်က နှုတ်မှဖွင့်ဟ၍ အတိအလင်း ခွင့်ပြုချက်မပြုသမျှ ကာလပတ်လုံး စားသုံးမှုကို ရှောင်ကြဉ်လာခဲ့ ကြပေသည်။ သူတစ်ပါးအိမ်တွင် မစားသုံးကြတော့ပေ။ ထို့အတူ ဆင်းရဲနွမ်းပါးသူများ၊ မစွမ်းမသန်သူများ၊ မျက်မမြင်သူများ၊ ခြေလက်ကျိုးသူများ၊ မကျန်းမာသူများကလည်း သူတစ်ပါး၌ မိမိတို့အား သူတစ်ပါးအိမ်သို့ ခေါ်ဆောင်ပိုင်ခွင့် မရှိပေရာ၊ မိမိတို့၌လည်း သူတစ်ပါးအိမ်တွင် စားသောက်ပိုင်ခွင့်မရှိဟု ယူဆလာခဲ့ကြပေသည်။ သူတစ်ပါးနှင့်အတူ လိုက်၍ သူတစ်ပါး အိမ်တွင် ဧည့်မြှောင်အဖြစ် လိုက်လံ စားသုံးခြင်းကိုလည်း ရှောင်ကြဉ်လာခဲ့ကြပေသည်။

مَلَكْتُمْ مَّفَاتِحَهٗٓ
اَوْصَدِيْقِكُمْ ۭ لَيْسَ
عَلَيْكُمْ جُنَاحٌ اَنْ
تَاْكُلُوْا جَمِيْعًا
اَوْ اَشْتَاتًا ۭ فَاِذَا دَخَلْتُمْ
بُيُوْتًا فَسَلِّمُوْا عَلٰٓي
اَنْفُسِكُمْ تَحِيَّةً مِّنْ عِنْدِ
اللّٰهِ مُبٰرَكَةً طَيِّبَةً ۭ
كَذٰلِكَ يُبَيِّنُ اللّٰهُ لَكُمُ
الْاٰيٰتِ لَعَلَّكُمْ تَعْقِلُوْنَ ٦١

اِنَّمَا الْمُؤْمِنُوْنَ الَّذِيْنَ اٰمَنُوْا
بِاللّٰهِ وَرَسُوْلِهٖ وَاِذَا كَانُوْا
مَعَهٗ عَلٰٓي اَمْرٍ جَامِعٍ لَّمْ

အသင်တို့သည် အထူး ရောနှောစုရုံးလျက် စားသုံးကြသည်ဖြစ်စေ၊ တခြားစီ(စားသုံးကြသည်) ဖြစ်စေ၊ အသင်တို့အပေါ်၌ အပြစ်တစ်စုံတစ်ရာမျှ မရှိချေ။

သို့ရာတွင် အသင်တို့သည် အိမ်များသို့ ဝင်ရောက်ကြသောအခါ မိမိတို့ကိုယ်များကို *အချင်းချင်း စလာမ်မေတ္တာ ပို့သကြလေကုန်။* [၁] (ယင်း စလာမ် မေတ္တာပို့သခြင်းကား) အလ္လာဟ်အရှင်မြတ် အထံတော်မှ (သတ်မှတ် ပြဋ္ဌာန်းအပ်သော) နှုတ်ခွန်းစကား၊ ဆုတောင်းပတ္ထနာပြုချက်ဖြစ်၏။ ကောင်းချီးမင်္ဂလာနှင့်ပြည့်စုံ၏။ ကောင်းမြတ်လှ၏။

အလ္လာဟ်အရှင်မြတ်သည် ဤနည်းအတိုင်းပင် အသင်တို့အဖို့ အမိန့် ပညတ်တော်များကို အသင်တို့ နားလည်(ကျင့်သုံး) ကြအံ့သောငှာ ထုတ်ဖော်မိန့်ကြားတော်မူလေသတည်း။

၆၂။ အကြင်သူတို့ သည်သာလျှင် 'မုအ်မင်န်' သက်ဝင်ယုံကြည်သူများ ဖြစ်ကြကုန်၏။ ထိုသူတို့ သည် အလ္လာဟ်အရှင်မြတ်အားလည်းကောင်း၊ ထို အရှင်မြတ်၏ ရစူလ် တမန်တော်မြတ်အား လည်း ကောင်း၊ သက်ဝင် ယုံကြည် ခဲ့ကြသည့် အပြင်

---

(၁) **<u>အိမ်သူအိမ်သားများအား 'စလာမ်' ပေးကြရမည်။</u>**

အိမ်တွင်းသို့ ဝင်ကြသည့်အခါ အိမ်၌ရှိနေကြသော မွတ်စ်လင်မ်များအား 'စလာမ်' မေတ္တာပို့ကြရမည်။ 'စလာမ်' သည် ဆုမွန်လည်းဖြစ်သည်။ အလ္လာဟ်အရှင်မြတ်ထံတော်မှ သတ်မှတ်ချက်လည်းဖြစ်သည်။ 'စလာမ်' ပေးခြင်းဖြင့် 'ဆဝါဗ်' ကုသိုလ်အကျိုးလည်း ရသည်ဖြစ်ရာ မင်္ဂလာလည်းမည်သည်။ စလာမ်ပေးခြင်းခံရသော ပုဂ္ဂိုလ်များ၏ ဟဒယနှလုံးကို ရွှင်ပြုံးစေသည်ဖြစ်ရာ ကောင်းမြတ်လှသော ပီယဝါစာစကား သည်လည်းမည်သည်။ တမန်တော်မြတ်ကလည်း အားပါးတရ စလာမ်ပေးရမည်ဟု မိန့်ကြားသွားတော်မူခဲ့သည်။ သို့ဖြစ်ရာ မွတ်စ်လင်မ်တို့သည် အချင်းချင်းတွေ့ဆုံကြသည့်အခါ၊ အမြဲတစေ၊ အလိုက်၊ သည်းလိုက် စလာမ်ပေးကြရပေမည်။

يَذْهَبُوا حَتَّىٰ يَسْتَأْذِنُوهُ
إِنَّ الَّذِينَ يَسْتَأْذِنُونَكَ
أُولَٰئِكَ الَّذِينَ يُؤْمِنُونَ بِاللَّهِ
وَرَسُولِهِ فَإِذَا اسْتَأْذَنُوكَ
لِبَعْضِ شَأْنِهِمْ فَأْذَن لِّمَن
شِئْتَ مِنْهُمْ وَاسْتَغْفِرْ لَهُمُ
اللَّهَ إِنَّ اللَّهَ غَفُورٌ رَّحِيمٌ ﴿٦٢﴾

တစ်စုံတစ်ရာ စုပေါင်းဆောင်ရွက်အပ်သော ကိစ္စနှင့် စပ်လျဉ်း၍ ထိုရစူလ်တမန်တော်မြတ်နှင့်အတူ ရှိကြသောအခါ၊ ထိုရစူလ်တမန်တော်မြတ်ထံတွင် *ခွင့်ပန်ကြားခြင်းမပြုသမျှ ကာလပတ်လုံး ထွက်မသွားကြပေ။* [၁] ဧကန်မလွဲ အသင့်ထံ ခွင့်ပန်ကြားကြကုန်သော သူတို့သာလျှင် အလ္လာဟ်အရှင်မြတ်အားလည်းကောင်း၊ ထိုအရှင်မြတ်၏ ရစူလ်တမန်တော်မြတ်အားလည်းကောင်း၊ သက်ဝင်ယုံကြည်ကြကုန်၏။

သို့ဖြစ်ပေရာငင်းတို့သည် အသင့်ထံ မိမိတို့၏ ကိစ္စတစ်စုံတစ်ရာအတွက် ခွင့်ပန်ခဲ့ကြလျှင် အသင်သည် ၎င်းတို့အနက် မိမိအလိုရှိသောသူအား ခွင့်ပြုပါလေ။ ထို့ပြင် အသင်သည် ၎င်းတို့အဖို့ အလ္လာဟ်အရှင်မြတ်အထံတော်၌ အပြစ်မှ ချမ်းသာခွင့်ရရှိရန် ပန်ကြားပါလေ။ စင်စစ်ဧကန် အလ္လာဟ်အရှင်မြတ်သည် အလွန်တရာ လွတ်ငြိမ်းချမ်းသာခွင့် ပေးသနားတော်မူသော၊ အလွန်တရာ သနားကြင်နာ ညှာတာတော်မူသောအရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

---

(၁) **ရာဇဝင်နောက်ခံ။**

ဤအာယတ်တော် ထုတ်ပြန်ပို့ချတော်မူခဲ့သည့် ရာဇဝင်နောက်ခံအဖြစ် အောက်တွင်ဖော်ပြပါ၊ ဖြစ်ရပ်နှစ်ခုကို တွေ့ရှိရပေသည်။

က။ 'အဟ်ဇာဗ်' စစ်ပွဲတွင် မဒီနာမြို့၏ ပတ်ဝန်းကျင်၌ မွတ်စ်လင်မ်များသည် ပင်ပန်းကြီးစွာဖြင့် ကျုံးတူးခဲ့ကြ၏။ အထူးကြိုးပမ်းခဲ့ကြ၏။ မြို့တွင်းသို့ပြန်ရန် အရေးတကြီးကိစ္စ ပေါ်လာပါက တမန်တော်မြတ်ထံ ခွင့်ပန်၍ တမန်တော်မြတ်၏ ခွင့်ပြုချက်ရမှသာလျှင် ပြန်လေ့ရှိခဲ့ကြ၏။ မုနာဖစ်ကက်များမှာမူ ကျုံးတူးရာတွင် စိတ်မဝင်စားခဲ့ကြပေ။ မြို့တွင်းသို့ မွတ်စ်လင်မ် တစ်ဦးတစ်ယောက်ပြန်သည်ကို မြင်လျှင် မုနာဖစ်က်များသည် တမန်တော်မြတ်ထံ တစ်စုံတစ်ရာ ခွင့်ပန်မကြားဘဲ အဆိုပါ မွတ်စ်လင်မ်နှင့် တွယ်ကပ်ကာ၊ မသိမသာ လစ်၍ ပြန်ခဲ့ကြပေသည်။ ထိုအခါ ဤအာယတ်တော် ကျရောက်လာခဲ့ပေသည်။ ထာနဝီ။

ခ။ ဂျုမုအဟ်သောကြာ စသည်များတွင် မွတ်စ်လင်မ် တစ်ဦးတစ်ယောက်၌ အရေးကြီးကိစ္စ ပေါ်ပေါက်လာပါက တမန်တော်မြတ်ထံ ခွင့်ပန်၍ ပြန်သွားလေ့ရှိခဲ့ပေသည်။ တမန်တော်မြတ် ခုတ္တဗဟ် တရားတော်ဟောကြားနေတော်မူသည့် အချိန်ဖြစ်ပါမူ လက်ဟန်ဖြင့် ခွင့်ပန်၍ ပြန်လေ့ရှိခဲ့ပေသည်။ ထိုအခါ ➤➤

| | |
|---|---|
| ၆၃။ အသင်တို့သည် ရစူလ်တမန်တော်မြတ်၏ ဖိတ်ခေါ်ခြင်းကို မိမိတို့အကြားဝယ် မိမိတို့အချင်းချင်း တစ်ဦးတစ်ယောက်ကို *တစ်ဦးတစ်ယောက်က ဖိတ်ခေါ်သကဲ့သို့* မယူဆကြကုန်လင့်။ [၁]<br><br>ဧကန်စင်စစ်အလ္လာဟ်အရှင်မြတ်သည် အသင်တို့အနက် အကွယ်အကာယူ၍ တိတ်တဆိတ် ခိုးထွက်သွားကြသောသူတို့အား ကောင်းစွာ သိရှိတော်မူ၏။ သို့ဖြစ်ပေရာထိုရစူလ်တမန်တော်မြတ်၏ အမိန့်တော်ကို ရှောင်သွေကုန်ကြသောသူတို့သည် မိမိတို့၌ ဒုက္ခတစ်စုံတစ်ရာ သက်ရောက်မည်ကိုသော်လည်းကောင်း၊ သို့မဟုတ် မိမိတို့၌ ပြင်းပြနာကျင်ဖွယ်ဖြစ်သောပြစ်ဒဏ် တစ်စုံတစ်ရာ သက်ရောက်မည်ကိုသော်လည်းကောင်း၊ စိုးရိမ်ကြရာကုန်သတည်း။ | لَا تَجْعَلُوْا دُعَآءَ الرَّسُوْلِ بَيْنَكُمْ كَدُعَآءِ بَعْضِكُمْ بَعْضًا ؕ قَدْ يَعْلَمُ اللّٰهُ الَّذِيْنَ يَتَسَلَّلُوْنَ مِنْكُمْ لِوَاذًا ۚ فَلْيَحْذَرِ الَّذِيْنَ يُخَالِفُوْنَ عَنْ اَمْرِهٖۤ اَنْ تُصِيْبَهُمْ فِتْنَةٌ اَوْ يُصِيْبَهُمْ عَذَابٌ اَلِيْمٌ ﴿٦٣﴾ |
| ၆၄။ သတိပြုကြလေကုန်။ ဧကန်မလွဲ မိုးကောင်းကင်များ၌ ရှိသမျှတို့သည်လည်းကောင်း၊ ပထဝီမြေ၌ ရှိသမျှတို့သည်လည်းကောင်း အလ္လာဟ်အရှင်မြတ်သာလျှင် ပိုင်ဆိုင်တော်မူသောအရာများ ဖြစ်ကုန်၏။ ဧကန်အမှန် ထိုအရှင်မြတ်သည် အသင်တို့၏ လက်ရှိအခြေအနေကိုလည်း သိတော်မူ၏။ | اَلَآ اِنَّ لِلّٰهِ مَا فِى السَّمٰوٰتِ وَالْاَرْضِ ؕ قَدْ يَعْلَمُ مَاۤ اَنْتُمْ عَلَيْهِ ؕ وَيَوْمَ يُرْجَعُوْنَ |

➤➤ ဆွလာတ်ဝတ်ပြုမှု၊ ခွတ္တဗဟ်တရားတော် ကြားနာမှုတွင် စိတ်မဝင်စားသော မုနာဖစ်ကျ်များသည် အဆိုပါ မွတ်စ်လင်မ်အား တွယ်ကပ်ကာ လျှို့ဝှက်စွာ မသိမသာ ပြန်သွားလေ့ရှိခဲ့ကြပေသည်။ ထိုအခါ ဤအာယတ်တော်ကျရောက်လာခဲ့ပေသည်။ ထာနဝီ။

(၁) **<u>တမန်တော်မြတ်၏ ဖိတ်ခေါ်ခြင်းကို အထူးလေးစားရမည်။</u>**

တမန်တော်မြတ်၏ ဖိတ်ခေါ်ခြင်းမှာ အချင်းချင်း သာမန် ဖိတ်ခေါ်ခြင်းမျိုးနှင့် မတူပေ။ တမန်တော်မြတ် ဖိတ်ခေါ်လျှင် ဖိတ်ခေါ်ရာသို့ သွားရောက်ခြင်းသည် မုချလိုက်နာဆောင်ရွက်ရမည့် 'ဝါဂျိဗ်' တာဝန်ဖြစ်သွားပေသည်။ ဖိတ်ခေါ်ရာသို့ မုချဆက်ဆက်သွားရမည်။ ခွင့်ပြုချက်မရှိဘဲ အစည်းအဝေးမှလည်း ထမပြန်ရ။ ထို့ပြင်တစ်ဝ၊ တမန်တော်မြတ်နှင့် စကားပြောဆိုရာတွင် လည်းကောင်း၊ တမန်တော်မြတ်အား အသံပြုရာတွင်လည်းကောင်း ဂါရဝတရားထားရမည်။ အထူးရိုသေလေးစားရမည်။ ရိုသေလေးစားခန့်ညားသော အသုံးအနှုန်းများကိုသာ သုံးစွဲရမည်။ ကြည့်-ကုရ်အာန် (၂:၁၀၄။ ၄၉:၂-၂၅)။

إِلَيْهِ فَيُنَبِّئُهُم بِمَا عَمِلُوا ۗ وَاللَّهُ بِكُلِّ شَيْءٍ عَلِيمٌ ﴿٦٤﴾

၎င်းတို့ ထိုအရှင်မြတ်အထံတော်သို့ ပြန်လည်ရောက်ရှိကြရမည့်နေ့ကိုလည်း သိတော်မူ၏။ (ထိုနေ့တွင်) ထိုအရှင်မြတ်သည် ၎င်းတို့အား ၎င်းတို့ကျင့်မူခဲ့သမျှတို့ကို ထုတ်ဖော်၍ ပြသတော်မူပေမည်။ စင်စစ်သော်ကား အလ္လာဟ်အရှင်မြတ်သည် အရာခပ်သိမ်းတို့ကို အကြွင်းမဲ့သိတော်မူသော အရှင်မြတ်ပင်ဖြစ်တော်မူပေသတည်း။ ၁

---

(၁) **အလ္လာဟ်အရှင်မြတ်သည် အားလုံးကို သိတော်မူသည်။ အားလုံးကို ပိုင်ဆိုင်တော်မူသည်။**

လူတစ်ယောက်သည် အခြားသူများမသိအောင်၊ လျှို့ဝှက်၍ တစ်စုံတစ်ရာ ပြုလုပ်ကောင်း ပြုလုပ်နိုင်ပေမည်။ ပုဂ္ဂိုလ်တစ်ဦးသည် အခြားပုဂ္ဂိုလ်များ၏ လက်တွင်းမှ လွတ်မြောက်ကောင်း လွတ်မြောက်သွားနိုင်ပေသည်။ သို့ရာတွင် အလ္လာဟ်အရှင်မြတ် သိတော်မမူအောင် အသူပြုစွမ်းနိုင်အံ့နည်း။ အလ္လာဟ်အရှင်မြတ်၏ အာဏာစက်အတွင်းမှ အသူလွတ်မြောက်သွားနိုင်အံ့နည်း။ အဘယ်ကြောင့်ဆိုသော် အလ္လာဟ်အရှင်မြတ်သည် မိုး၊ မြေ၊ နေ၊ လ စကြာဝဠာအဝှန်းကို ပိုင်ဆိုင်တော်မူသည်။ ထိုအရှင်မြတ်သည် အရာခပ်သိမ်းကုန်တို့ကို အကြွင်းမဲ့ သိတော်မူသည်။ ထိုအရှင်မြတ်သည် အသင်တို့၏ လက်ရှိ အခြေအနေကိုလည်း သိတော်မူသည်။ ကိယာမတ်နေ့စာရင်းအင်းရှင်းရန် ထိုအရှင်မြတ်ထံ ပြန်လည်ရောက်ရှိကြသည့်အခါ ပြုလုပ်ခဲ့ကြသည်များကိုလည်း ခရေစေ့တွင်းကျ ဖွင့်ပြတော်မူဦးမည် ဖြစ်သည်။ သို့ဖြစ်ပေရာ အားလုံးကို ပိုင်ဆိုင်တော်မူသော၊ အားလုံးကိုသိတော်မူသော ထိုအရှင်မြတ်၏ လက်တော်တွင်းမှ တရားခံတစ်ဦးသည် အသို့လျှင် လွတ်မြောက်သွားနိုင်အံ့နည်း။

# အမှားအမှန်ခွဲခြားပေးသောကဏ္ဍ

سُوْرَةُ الْفُرْقَانِ

ဤကဏ္ဍသည် စူရဟ် "ဖုရ်ကာန်" အမှား-အမှန်ခွဲခြားပေးသော ကဏ္ဍဖြစ်သည်။
မက္ကာမြို့တော်၌ ထုတ်ပြန်ချမှတ်တော်မူသော ကဏ္ဍဖြစ်သည်။
ဤကဏ္ဍတွင် အာယတ်တော် (၇၇)ပါးနှင့် ရကူအ်အပိုဒ် (၆)ပိုဒ် အသီးသီးပါရှိသည်။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ

မပြတ်မစဲ သနားကြင်နာ ညှာတာတော်မူသော၊
အနန္တဂရုဏာတော်ရှင်ဖြစ်တော်မူသော၊
အလ္လာဟ်အရှင်မြတ်၏နာမံတော်ဖြင့် အစပြုပါ၏။

تَبٰرَكَ الَّذِيْ نَزَّلَ الْفُرْقَانَ عَلٰى عَبْدِهٖ لِيَكُوْنَ لِلْعٰلَمِيْنَ نَذِيْرًا ①

၁။ *အမှားအမှန် ဝေဖန်ပိုင်းခြား ပေးအပ်သော (ကျမ်းဂန် ကုရ်အာန်)ကို* [၁] မိမိကျွန်၏အပေါ်ဝယ် ချပေးသနားတော်မူခဲ့သောအရှင်မြတ်သည် *ကောင်းချီးမင်္ဂလာအပေါင်းနှင့်ပြည့်စုံတော်မူပါပေသည်။* [၂] သို့ ချပေးသနားတော်မူခြင်းမှာ ထိုကျွန် [၃] (ဝါ) တမန်တော်မုဟမ္မဒ်)သည်စကြာဝဠာခပ်သိမ်းတို့ကို သတိပေးနှိုးဆော်သူဖြစ်အံ့သောငှာ ချပေးသနားတော်မူခြင်းပင်ဖြစ်ပေသည်။ (တစ်နည်း) မိမိကျွန်၏ အပေါ်ဝယ် ထိုကျွန်သည် စကြာဝဠာခပ်သိမ်းတို့ကို သတိပေးနှိုးဆော်သူဖြစ်အံ့သောငှာ အမှားအမှန် ဝေဖန်ပိုင်းခြားပေးအပ်သော(ကျမ်းဂန်ကုရ်အာန်)ကို ချပေးသနားတော်မူသောအရှင်မြတ်သည် ကောင်းချီးမင်္ဂလာနှင့်ပြည့်စုံတော်မူပါပေသည်။

---

(၁) **ကုရ်အာန်နှင့် ဖုရ်ကာန်။**

ဤအာယတ်တော်တွင် ကုရ်အာန်ကျမ်းမြတ်ကို 'ဖုရ်ကာန်'ဟူ၍ ဝိသေသဂုဏ်ထူးဖြင့် သုံးနှုန်းထားတော်မူသည်။ အကြောင်းတစ်မူကား၊

(က) အတိတ်ခေတ် ကျမ်းဂန်များသည် အလ္လာဟ်အရှင်မြတ် ထံတော်မှ တစ်ကြိမ်တည်း တစ်ခါတည်း တစ်လုံးတစ်ဝတည်း ကျရောက်လာခဲ့ပေသည်။ ကုရ်အာန်ကျမ်းမြတ်ကား ထိုသို့မဟုတ် အလ္လာဟ်အရှင်မြတ်သည် ကုရ်အာန်ကျမ်းမြတ်ကို အခါအားလျော်စွာ အကြိမ်ကြိမ်အခါခါ ခွဲ၍ခွဲ၍ ထုတ်ပြန်ချမှတ်တော် မူခဲ့ပေသည်။ ကြည့်-ကုရ်အာန် (၁၇:၁၀၆၊ ၂၅:၃၂-၃၃)။ ယင်းသို့ ကုရ်အာန်ကျမ်းမြတ်ကို အကြိမ်ကြိမ်၊ အခါခါ၊ ➤➤

➤➤ ခွဲ၍ခွဲ၍ ထုတ်ပြန်ချမှတ်တော် မူသည်ကို အကြောင်းပြု၍ ကုရ်အာန်ကို 'ဖုရ်ကာန်'ဟူ၍ မှည့်ခေါ်ထားတော်မူခြင်းဖြစ်သည်။

(ခ) ကုရ်အာန်ကျမ်းမြတ်သည် အမှားအမှန် ၊ တရားမှန်၊ တရားမှား၊ ဟလာလ်၊ ဟရာမ်စသည်များကို ခွဲခြားပြသည်ကို အကြောင်းပြု၍ ကုရ်အာန်ကို 'ဖုရ်ကာန်'ဟူ၍ မှည့်ခေါ်ထားခြင်းဖြစ်သည်။

② 'တဗာရက' ဟူသော ပုဒ်သည် 'ဗရကတ်' ဟူသောပုဒ်မှ ဆင်းသက်လာသည်။ 'ဗရကတ်' ဟူသည် တစ်စုံတစ်ခု၌ သော်လည်းကောင်း၊ တစ်ဦးတစ်ယောက်၌သော် လည်းကောင်း၊ အလ္လာဟ်အရှင်မြတ် ထံတော်မှ ကောင်းချီးမင်္ဂလာ သက်ရောက်ခြင်း၊ တည်ရှိခြင်းကိုဆိုလိုသည်။

'ဗရ်ကတ်'သည် ရေကန်ကိုဆိုသည်။ ရေကန်၌ ရေများရပ်တည်နေသကဲ့သို့ တစ်စုံတစ်ခု၌သော် လည်းကောင်း၊ တစ်ဦးတစ်ယောက်၌သော် လည်းကောင်း အလ္လာဟ်အရှင်မြတ်ထံတော်မှ ကောင်းချီးမင်္ဂလာ တည်ရှိနေခြင်းကို 'ဗရကတ်' ဖြစ်သည်ဟုဆိုကြသည်။ အလ္လာဟ်အရှင်မြတ်၏ ကောင်းချီးမင်္ဂလာများတည်ရှိရာ ပုဂ္ဂိုလ်၊ သို့မဟုတ် နေရာကို 'မုဗာရတ်က်' ဟု ခေါ်ဆိုကြသည်။

အလ္လာဟ်အရှင်မြတ်၏ ကောင်းချီးမင်္ဂလာ များသည် တွေးဆဆင်ခြင်၍ မရသောနေရာမှ ရေတွက်၍ မရသောနည်းဖြင့် သက်ရောက်သည်ဖြစ်ရာ တွေးဆ ဆင်ခြင်၍ မရသော၊ များစွာပွားများသော အရာတိုင်းကိုလည်း "မုဗာရတ်က်"ဟူ၍ လည်းကောင်း ထိုအရာတွင် 'ဗရကတ်'ရှိသည်ဟူ၍လည်းကောင်း ခေါ်ဆိုကြသည်။ အထက်တွင် ရေးသားဖော်ပြခဲ့သည့်အတိုင်း၊ 'တဗာရက' ဟူသောပုဒ်သည် 'ဗရကတ်' ဟူသောပုဒ်မှ ဆင်းသက်လာသည်။ ယင်းပုဒ်ကို အလ္လာဟ်အရှင်မြတ်၏ ကြိယာပုဒ်အဖြစ်နှင့် သုံးနှုန်းသည့်အခါ- ဥပမာ ဤအာယတ်တော်တွင် လာရှိသည့်အတိုင်း ( تَبٰرَكَ الَّذِىْ نَزَّلَ الْفُرْقَانَ ) ဟူသော အာယတ်တော်၏အနက်သဘောမှာ ဖုရ်ကာန်ကျမ်းကို ထုတ်ပြန်ချမှတ်တော်မူသော အရှင်မြတ်သည် ကောင်းချီးမင်္ဂလာအပေါင်းနှင့် ပြည့်စုံတော်မူပေသည်။ (ဝါ) ထိုအရှင်မြတ်သည် ဖုရ်ကာန်ကျမ်းကို ထုတ်ပြန်ချမှတ်၍ ကောင်းချီးမင်္ဂလာများကို ဖြစ်ထွန်းစေတော်မူပေသည် ဟူ၏။ ကြည့်- (ရာဃိဗ်)။

③ **'အဗ်ဒ်' အိဗာဒတ်။**

'အဗ်ဒ်' ဟူသောပုဒ်သည် 'အုဗူဒီယတ်'၊ 'အိဗာဒတ်' ဟူသောပုဒ်များမှ ဆင်းသက်လာသည်။ 'အုဗူဒီယတ်' ဟူသောပုဒ်သည် နိမ့်ကျမှု၊ သေးသိမ်မှုကို ဖော်ပြခြင်းအနက်၌ ဖြစ်သည်။ 'အိဗာဒတ်' ဟူသော ပုဒ်သည် 'အုဗူဒီယတ်' ဟူသောပုဒ်ထက်ပင် အနက်အဓိပ္ပါယ် ပိုမိုကျယ်ပြန့်သည်။ အလွန့်အလွန် နိမ့်ကျမှု၊ သေးသိမ်မှုကို ဖော်ပြခြင်းအနက်၌ ဖြစ်သည်။ ဤသည့် 'အိဗာဒတ်'ကို ဉာဏ်တော်အနန္တ၊ တန်ခိုးတော်အနန္တ၊ ကျေးဇူးတော်အနန္တနှင့် ပြည့်စုံတော်မူသော တစ်ဆူတည်းဖြစ်တော်မူသော အလ္လာဟ်အရှင်မြတ်သည်သာလျှင် ခံယူတော်မူထိုက်ပေသည်။ ထို့အတွက် ကုရ်အာန်ကျမ်းမြတ်တွင် မြောက်မြားစွာသော နေရာများ၌ အလ္လာဟ်အရှင်မြတ်အားသာလျှင်၊ 'အိဗာဒတ်' ခဝပ်ကိုးကွယ်ကြရမည့်အကြောင်း၊ အထပ်ထပ် အခါခါ မိန့်ကြားထားတော်မူခြင်းဖြစ်သည်။

**အိဗာဒတ်သည် နှစ်မျိုးရှိသည်။**

(က) တန်ခိုးအာဏာဖြင့် ပြုလုပ်စီရင်ထားတော်မူခြင်းကြောင့် ခယရိုကျိုးရခြင်း။ မိုး၊ မြေ၊ အတွင်းရှိ သက်ရှိ သက်မဲ့အားလုံးတို့သည် စေတနာပါသည်ဖြစ်စေ၊ စေတနာမပါသည်ဖြစ်စေ၊ အလ္လာဟ်အရှင်မြတ်အား ရိုးကျိုးနေကြသည်သာဖြစ်သည်။ ကြည့်-ကုရ်အာန် (၁၃း၁၅)။

(ခ) စေတနာအလျောက် ခယရိုကျိုးခြင်း။ ဤသည် လူသားတို့အဖို့သာ ဖြစ်သည်။ ဤသို့➤➤

الَّذِي لَهُ مُلْكُ السَّمٰوٰتِ وَالْاَرْضِ وَلَمْ يَتَّخِذْ وَلَدًا وَّلَمْ يَكُنْ لَّهُ شَرِيْكٌ فِي الْمُلْكِ وَخَلَقَ كُلَّ شَيْءٍ فَقَدَّرَهُ تَقْدِيْرًا ②

၂။ ထိုအရှင်မြတ်သည်အကြင်အရှင်မြတ်ပင်၊ မိုးကောင်းကင်ကို စိုးမိုးအုပ်ချုပ်မှု အာဏာသည်လည်းကောင်း၊ ကမ္ဘာမြေကို စိုးမိုးအုပ်ချုပ်မှုအာဏာသည်လည်းကောင်း၊ ထိုအလ္လာဟ်အရှင်မြတ်၌သာ ရှိပေသည်။ စင်စစ်ထိုအရှင်မြတ်သည် တစ်ဦးတစ်ယောက်ကိုမျှလည်း (မိမိ၏)သားအဖြစ် ပြုလုပ်တော်မူခဲ့သည် မဟုတ်ပေ။ ထို့ပြင် ထိုအရှင်မြတ်၌ စိုးမိုးအုပ်ချုပ်မှုတွင် တွဲဖက်ဟူ၍လည်း တစ်ဦးတစ်ယောက်မျှမရှိချေ။ ထိုမှတပါး ထိုအရှင်မြတ်သည် အရာခပ်သိမ်းတို့ကို ဖန်ဆင်းတော်မူခဲ့သည့်ပြင် ထိုအရာများကို နှိုင်းချိန်တိုင်းဆ ထားတော်မူခဲ့လေသည်။

---

➤➤ ခယရီးကျိုရန် လူသားတို့၌လည်း တာဝန်ရှိသည်။ ကြည့်- ကုရ်အာန် (၂:၂၁)။

**'အဗ်ဒ်'သည် ၄ - မျိုးရှိသည်။**

(၁) ကျေးကျွန်။ တရားဥပဒေအရ သူတစ်ပါး၏လက်တွင် သူတစ်ပါး၏ ပိုင်ဆိုင်မှုတွင် ရောက်ရှိနေရသောကျေးကျွန်များ၊ ယင်းသို့သောကျေးကျွန်များကို ရောင်းဝယ်နိုင်သည်။ကြည့်-ကုရ်အာန် (၂:၁၇၈၊ ၁၆:၇၅)။

(၂) အဖန်ဆင်းခံကျွန်။ လူသားအားလုံးတို့သည် အလ္လာဟ်အရှင်မြတ်၏ ဖန်ဆင်းမှု ကျေးဇူးတော်ကြောင့် ဖြစ်ပေါ်လာကြရသော လူများသာဖြစ်ကြပေရာ၊ ယင်းလူသားအားလုံးတို့သည် ထိုအရှင်မြတ်၏ အဖန်ဆင်းခံကျွန်များသာ ဖြစ်ကြပေသည်။ ကြည့်-ကုရ်အာန် (၁၉:၉၃)

လူသားတို့သည် ဝတ်ပြုကြသည်၊ ပြုစုကြသည်ဖြစ်ရာ ဝတ်ပြုကျွန်၊ ပြုစုကျွန်များလည်း ဖြစ်ကြပေသည်။ ဤတွင်လည်း နှစ်မျိုးနှစ်စား ရှိပြန်သည်။

(၃) အလ္လာဟ်၏ကျွန်။ အချို့လူသားတို့သည် အလ္လာဟ်အရှင်မြတ်အား စိတ်စေတနာ၊ သဒ္ဓါတရား ထက်သန်စွာဖြင့် ခယရိကျိုး၊ ရှိခိုးဝတ်ပြုကြသည်။ ဤသို့သော လူသားတို့သည် အလ္လာဟ်၏ ကျွန်များ ဖြစ်ကြပေသည်။ ကြည့်-ကုရ်အာန် (၁၇:၃ ၊ ၂၅:၁၊ ၃၈:၄၁)။

(၄) ရွှေ၊ ငွေ၊ ကျွန်။ အချို့လူသားတို့သည် လောကီရေး၊ ရွှေ ငွေ ဥစ္စာပစ္စည်း စုဆောင်းရေး၌သာ နစ်မွန်းနေကြ၏။ အခြားမည်သည့်အရေး၌မျှ စိတ်မဝင်စားကြပေ။ ထိုသို့သော သူများသည် ရွှေကျွန်၊ ငွေကျွန်၊ လောကီကျွန်များသာ ဖြစ်နေကြပေသည်။ ဤသည်ကို ရည်ညွှန်း၍ တမန်တော်မြတ်က 'ရွှေကျွန်၊ ငွေကျွန်များသည် ပျက်စီးကြသည်ဖြစ်ပါစေ' ဟု မိန့်ကြားတော်မူခဲ့ခြင်းဖြစ်သည်။ ကျေးကျွန်၊ ငွေဝယ်ကျွန် ဟူ၍အနက်ပေးသော 'အဗ်ဒ်' ဟူသောပုဒ်၏ ဗဟုဝစ်ကိန်း 'အဗ်ဒ်'၊ 'အိဗ်ဗိဒ်' ဟူ၍ ဖြစ်သည်။ စေတနာအလျောက် ခယရိကျိုးသူဟူ၍ အနက်ပေးသော 'အဗ်ဒ်'ဟူသောပုဒ်၏ ဗဟုဝစ်ကိန်းမှာ အိဗာဒ် ဟူ၍ဖြစ်သည်။ ကြည့်-ရာဃိဗ်။

وَاتَّخَذُوا مِن دُونِهِ آلِهَةً لَا يَخْلُقُونَ شَيْئًا وَهُمْ يُخْلَقُونَ وَلَا يَمْلِكُونَ لِأَنفُسِهِمْ ضَرًّا وَلَا نَفْعًا وَلَا يَمْلِكُونَ مَوْتًا وَلَا حَيَاةً وَلَا نُشُورًا ③

၃။ သို့ရာတွင် ၎င်း(မုရှ်ရစ်က်)တို့သည် ထိုအရှင်မြတ်အပြင် အခြားအကြင်ကိုးကွယ်ရာများ ပြုလုပ်ခဲ့ကြကုန်၏။ ယင်းကိုးကွယ်ရာများသည် မည်သည့်တစ်စုံတစ်ရာကိုမျှ မဖန်ဆင်းကြသည့်ပြင် ၎င်းတို့ကိုယ်တိုင်ပင် ဖန်ဆင်းခြင်းခံကြရလေသည်။ ထို့ပြင် ၎င်းတို့သည် မိမိတို့ကိုယ်တိုင်နှင့်ပက်သက်၍ပင် မည်သည့် အကျိုးယုတ်စေမှုကိုလည်း ပိုင်ဆိုင်ကြသည် မဟုတ်၊ မည်သည့်အကျိုးဖြစ်ထွန်းစေမှုကိုလည်း ပိုင်ဆိုင်ကြသည်မဟုတ်ပေ။ ထိုမှတပါး (တစ်စုံတစ်ယောက်အား) အသက်သေဆုံးခြင်းကိုလည်းကောင်း၊ (တစ်စုံတစ်ယောက်အား) အသက်ရှင်စေခြင်းကိုလည်းကောင်း၊ (တစ်စုံတစ်ယောက်အား) ရှင်ပြန်ထစေခြင်းကိုလည်းကောင်း၊ အလျှင်း ပိုင်ဆိုင်ကြသည်လည်း မဟုတ်ပေတကား။

وَقَالَ الَّذِينَ كَفَرُوا إِنْ هَٰذَا إِلَّا إِفْكٌ افْتَرَاهُ وَأَعَانَهُ عَلَيْهِ قَوْمٌ آخَرُونَ ۖ فَقَدْ جَاءُوا ظُلْمًا وَزُورًا ④

၄။ ၎င်းပြင် ကာဖိရ် သွေဖည်ငြင်းပယ်ကြကုန်သောသူတို့က ဤ 'ကုရ်အာန်ကျမ်းတော်မြတ်' သည် ဤသူ(တမန်တော်မြတ်) လီဆယ်ဖန်တီးထားသော မုသားသက်သက်ပင်ဖြစ်သည်။ ဤကိစ္စ၌ ၎င်းအား *အခြားအမျိုးသားများကလည်း ကူညီရိုင်းပင်းခဲ့ကြသည်ဟု ပြောဆိုကြလေသည်။* [1] (ယင်းသို့ပြောဆို၍) ထိုကာဖိရ် သွေဖည်ငြင်းပယ်သောသူတို့သည် အကြီးအကျယ် မတရားမှုကိုလည်းကောင်း၊ အကြီးအကျယ် မုသားစကားကိုလည်းကောင်း၊ ကျူးလွန်ခဲ့ကြလေပြီ။

---

**(၁) ကုရ်အာန်နှင့်စပ်လျဉ်း၍ ကာဖစ်ရ်များ၏ မဟုတ်မလျား စွပ်စွဲချက်။**

ကုရ်အာန်ကျမ်းမြတ်နှင့် စပ်လျဉ်း၍ ကာဖိရ်များက 'ကုရ်အာန်သည် အတိတ်ခေတ်ရှေးသူဟောင်းတို့၏ အခြေအမြစ်မရှိသော ပုံပြင်များသာဖြစ်သည်။ အချို့ယဟူဒီများ၏ အကူအညီဖြင့် (တမန်တော်) မုဟမ္မဒ်သည် ယင်းသည့် ပုံပြင်များကို ရေးမှတ်စေထားပြီး၊ ဤသည် အလ္လာဟ်အရှင်မြတ်ထံတော်မှ ထုတ်ပြန်ချမှတ်တော်မူသော အာယတ်တော်များဖြစ်သည်ဟု လိမ်လည်၍ ပြောဆိုသည်' ဟူ၍ မဟုတ်မလျား စွပ်စွဲပြောဆိုခဲ့ကြလေသည်။ ➢➢

وَقَالُوْٓا اَسَاطِيْرُ الْاَوَّلِيْنَ اكْتَتَبَهَا فَهِيَ تُمْلٰى عَلَيْهِ بُكْرَةً وَّاَصِيْلًا ﴿٥﴾

၅။ ၎င်းပြင် ထိုကာဖိရ် သွေဖည်ငြင်းပယ်သော သူတို့က ‘(ဤကုရ်အာန်ကျမ်းမြတ်သည်) ဤသူ ရေးမှတ်စေခဲ့သော ရှေးသူဟောင်းတို့၏ အခြေအမြစ် မရှိသောပုံပြင်များသာ ဖြစ်သည်။ တစ်ဖန် ထိုအခြေ အမြစ်မရှိသော၊ ပုံပြင်များကို ဤသူ၏ရှေ့ဝယ် နံနက်ယံ၌လည်းကောင်း၊ ညနေချမ်း၌လည်းကောင်း ဖတ်ကြားရလေသည်’ ဟု ပြောဆိုကြကုန်၏။

قُلْ اَنْزَلَهُ الَّذِيْ يَعْلَمُ السِّرَّ فِي السَّمٰوٰتِ وَالْاَرْضِ ۭ اِنَّهٗ كَانَ غَفُوْرًا رَّحِيْمًا ﴿٦﴾

၆။ (အို-နဗီတမန်တော်) အသင်သည် (၎င်းတို့ အား ဤသို့)ပြောဆို(ဖြေကြား)ပါလေ။ (အချင်းတို့၊) ဤ(ကုရ်အာန်ကျမ်းတော်)ကို မိုးကောင်းကင်များနှင့် ပထဝီမြေ၌ ရှိကုန်သော လျှို့ဝှက်ချက်တို့ကို သိရှိ တော်မူသော *အရှင်မြတ်က ချပေးသနားတော်မူခဲ့ ပေသည်။* [1] ကေန်မလွဲ ထိုအရှင်မြတ်သည် အလွန် တရာ လွတ်ငြိမ်းချမ်းသာခွင့်ပေးတော်မူသော၊ အလွန် တရာ သနား ကြင်နာတော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

---

➤➤ ဤသို့ မဟုတ်မလျား စွပ်စွဲပြောဆိုသူများသည် အလွန်ကြီးမားသော စော်ကားခြင်း၊ မုသားစကားဆိုခြင်းကို ကျူးလွန်သူများသာ ဖြစ်ကြပေသည်။ အမှန်မှာ ကုရ်အာန်ကျမ်းမြတ်သည် သူမတူအောင် စာပေဂုဏ်မြောက်လှပေ သည်။ အနက်အဓိပ္ပါယ် နက်နဲပြည့်ဝ စုံလင်လှပေသည်။ ကုရ်အာန်နှင့်စပ်လျဉ်း၍ ယုံမှားသံသယရှိပါက ကုရ်အာန်ဟူသော အလားတူကဏ္ဍ တစ်ခုမျှပင်၊ စီရင်ရေးသားရန် ကမ္ဘာ့အဝှန်းသို့ ကြွေးကြော်ထားသည်။ ယနေ့တိုင် ယှဉ်ပြိုင်ရေးသားနိုင်သူ တစ်ဦးတစ်ယောက်မျှ၊ မပေါ်သေးချေ။ ကမ္ဘာ့တစ်သက် ပေါ်မည်လည်း မဟုတ်ချေ။ ယှဉ်ပြိုင်ရန် ကုရ်အာန် ကျမ်းမြတ်၏ ကြေညာချက်ကို လက်ခံယှဉ်ပြိုင်ခြင်းမပြုဘဲ ကုရ်အာန်သည် ရှေးသူဟောင်းတို့၏ ပုံပြင်များသာ ဖြစ်သည်ဟု စွပ်စွဲပြောဆို နေခြင်းမှာကား အဓိပ္ပါယ်မရှိပေ။

(၁) **ကုရ်အာန်သည် အလ္လာဟ်အရှင်မြတ်၏ ကျမ်းဂန်ဖြစ်ကြောင်း မိမိကိုယ်တိုင် သက်သေခံပင်။**

ကုရ်အာန်ကျမ်းမြတ်သည် မိုး၊ မြေ စကြာဝဠာအတွင်း ရှိရှိသမျှသောအရာများကို အကြွင်းမဲ့ သိတော်မူသော အလ္လာဟ်အရှင်မြတ် ထုတ်ပြန်ချမှတ်ထားတော်မူသော ကျမ်းဂန်ဖြစ်သည်။ သို့ဖြစ်သည့်အားလျော်စွာ ကုရ်အာန်သည် စံမတူအောင် စာပေဂုဏ်မြောက်လှပေသည်။ ဤကျမ်းဂန်တွင် သူမတူအောင် အသိပညာ၊ အမိန့်ပညတ်တော်များ၊ မျက်ကွယ်သတင်းများ၊ အမိန့်တော်များ၊ နက်နဲသိမ်မွေ့လှသော လျှို့ဝှက်ချက်များ ပါရှိပေသည်။ အလ္လာဟ်အရှင်မြတ်၏ အကူအညီမပါရှိဘဲလျက် ယင်းသည့် လျှို့ဝှက်ချက်များကို ➤➤

၇။ ထိုမှတပါး ထို 'ကာဖိရ်' သွေဖည်ငြင်းပယ်သောသူတို့က (ဤသို့)ပြောဆိုကြသေး၏။ 'ဤရစူလ်တမန်တော်သည် မည်သို့သောရစူလ်တမန်တော်နည်း။ ၎င်းသည် အစားအစာကို စားသုံးလေသည်။ ၎င်းပြင်ဈေးများတွင် လှည့်ပတ်သွားလာလေသည်။ ၎င်း၏ထံသို့ ကောင်းကင်တမန်တစ်ပါးပါးသည် အဘယ်ကြောင့်စေလွှတ်ခြင်းမခံရလေသနည်း။ သို့စေလွှတ်ခြင်းခံရပါလျှင် ထိုကောင်းကင်တမန်သည်လည်း ၎င်းနှင့်အတူ ကူညီသတိပေး နှိုးဆော်သူဖြစ်ပေမည်။

وَقَالُوا مَالِ هٰذَا الرَّسُولِ يَأْكُلُ الطَّعَامَ وَيَمْشِي فِي الْأَسْوَاقِ ۙ لَوْلَا أُنْزِلَ إِلَيْهِ مَلَكٌ فَيَكُونَ مَعَهُ نَذِيرًا ۝٧

၈။ သို့တည်းမဟုတ်၊ ၎င်း၏ထံသို့ ဘဏ္ဍာတိုက်တစ်ခုသည် အဘယ်ကြောင့် ချပေးခြင်းမခံရသနည်း၊ သို့တည်းမဟုတ် ၎င်း၌ ဥယျာဉ်တစ်ခုသည် အဘယ်ကြောင့် မရှိလေသနည်း။ (သို့ရှိခဲ့လျှင်) ၎င်းသည် ယင်းဥယျာဉ်မှ(သစ်သီးဝလံများ)ကို စားသုံးနိုင်ပေမည်' ထိုမှတပါး ထိုမတရားသောသူတို့က 'အသင်တို့သည် စုန်းပြုစားခြင်းခံရသော ယောကျ်ားတစ်ဦး၏နောက်သို့သာ လိုက်နေကြသည်'ဟု *ပြောဆိုကြကုန်၏။* [၁]

أَوْ يُلْقَىٰ إِلَيْهِ كَنْزٌ أَوْ تَكُونُ لَهُ جَنَّةٌ يَأْكُلُ مِنْهَا ۚ وَقَالَ الظَّالِمُونَ إِنْ تَتَّبِعُونَ إِلَّا رَجُلًا مَسْحُورًا ۝٨

---

⮞⮞ မည်သူမျှ ထွင်းဖောက်မသိနိုင်ပေ။ ဤသည်များကို ထောက်ရှုခြင်းအားဖြင့် ဤကုရ်အာန်ကျမ်းမြတ်သည် ကာဖိရ်များ မဟုတ်မလျှား၊ စွပ်စွဲပြောဆိုသကဲ့သို့ ပုဂ္ဂိုလ်တစ်ဦး သို့မဟုတ် တစ်သင်းတစ်ဖွဲ့က စီရင်ရေးသားထားသောကျမ်း မဟုတ်ကြောင်း ကောင်းစွာ သိရှိရပေသည်။ အမှန်မှာ ကုရ်အာန်သည် အလ္လာဟ်အရှင်မြတ်၏ ကျမ်းဂန်ဖြစ်ကြောင်း၊ မိမိကိုယ်တိုင် သက်သေခံလျက် ရှိပေသည်။ ဤအာယတ်တော်တွင် ဤအချက်ကိုပင် ရည်ညွှန်းမိန့်ဆိုထားတော်မူသည်။

(၁) **<u>ကာဖိစ်ရ်များ၏ အဓိပ္ပါယ်ကင်းမဲ့သော တောင်းဆိုချက်များ။</u>**

ကာဖိရ်များသည် ကုရ်အာန်ကျမ်းလာ တရားတော်များကို ပြန်လည် မချေပနိုင်ကြသည့်အဆုံးတွင် ဤအာယတ်တော်များတွင် လာရှိသည့်အတိုင်း၊ အဓိပ္ပါယ်ကင်းမဲ့သော တောင်းဆိုချက်များကို တောင်းဆိုလာခဲ့ကြပေသည်။ ဤအာယတ်တော်များနှင့် အနက်သဘောတူ အာယတ်တော်များသည် ကုရ်အာန်ကျမ်းမြတ် (၆း၇-၁၀၊ ၁၁း၁၂-၁၄၊ ၁၅း၆-၁၅၊ ၁၇း၅၉-၆၀-၉၀-၉၃) တွင် လာရှိခဲ့ပေပြီ သက်ဆိုင်ရာ အဖွင့်များလည်း အကျယ်တဝင့် ရေးခဲ့ပေပြီ ပြန်လည်ကြည့်ရှုပါကုန်။

٩။ (အို-နဗီတမန်တော်) ၎င်းတို့သည် အသင်နှင့် ပက်သက်၍ မည်ကဲ့သို့သောဥပမာပုံဆောင်ချက်များ ခိုင်းနှိုင်းခဲ့ကြသည်ကို အသင်ရှုပါလေ။ ထို့ကြောင့်ပင် ၎င်းတို့သည် လမ်းလွဲခဲ့ကြချေပြီ။ သို့ဖြစ်ပေရာ ၎င်းတို့သည် မည်သည့်(ထွက်)လမ်းကိုမျှပင် တွေ့ရှိနိုင်ကြတော့မည် မဟုတ်ပေတကား။ ၁

اُنْظُرْ كَيْفَ ضَرَبُوْا لَكَ الْاَمْثَالَ فَضَلُّوْا فَلَا يَسْتَطِيْعُوْنَ سَبِيْلًا ⑨

၁၀။ အကြင်အရှင်မြတ်သည် ကောင်းချီးမင်္ဂလာနှင့် ပြည့်စုံတော်မူပေသည်။ အကယ်၍ ထိုအရှင်မြတ်သည် အလိုရှိတော်မူပါလျှင် အသင့်အား ထို့ထက်ပင် ပို၍ ကောင်းမွန်သော အကြင်ဥယျာဉ်များကို ချီးမြှင့် ပေးသနားတော်မူပေမည်။ ထိုဥယျာဉ်များ၏အောက်မှ ချောင်းများသည် စီးတွေလျက်ရှိချေမည်။ ၎င်းပြင် ထိုအရှင်မြတ်သည် အသင့်အား ခမ်းနားသိုက်မြိုက် သောအဆောက်အအုံများကိုလည်း ချီးမြှင့် ပေးသနား တော်မူပေမည်။

تَبٰرَكَ الَّذِيْٓ اِنْ شَآءَ جَعَلَ لَكَ خَيْرًا مِّنْ ذٰلِكَ جَنّٰتٍ تَجْرِيْ مِنْ تَحْتِهَا الْاَنْهٰرُ وَيَجْعَلْ لَّكَ قُصُوْرًا ⑩

---

(၁) **ဆန်စဉ်ရာ ကျည်ပွေ့လိုက်ရန် မလိုပေ။**

အလ္လာဟ်အရှင်မြတ်သည် အနန္တတန်ခိုးတော်ရှင် ဖြစ်တော်မူသည်။ အရာခပ်သိမ်းကုန်တို့ကို ပြုစွမ်းနိုင်တော်မူနိုင်သည်။ အလိုတော်ရှိတော်မူသောအရာကို 'ဖြစ်စေ'ဟု မိန့်ဆိုတော်မူရုံဖြင့် ထိုအရာသည် အလိုအလျောက် ဖြစ်ပေါ်လာပေသည်။ ထိုအရှင်မြတ်၌ အခက်အခဲဟူ၍ အလျှင်းမရှိ။

အလ္လာဟ်အရှင်မြတ်သည် တမန်တော်မြတ်အား ချီးမြှင့်တော်မူလိုပါက ကာဖိရ်များတောင်းဆိုကြသော အရာများထက်ပင် အတိုင်းမသိ ပိုမိုကောင်းမြတ်သော အရာများကို တစ်မုဟုတ်ချင်း ချီးမြှင့်တော်မူနိုင်ပေသည်။ သို့သော် အလ္လာဟ်အရှင်မြတ်သည် အလုံးစုံကို သိကြားမြင်နိုင်သော ဉာဏ်တော်ရှင် ဖြစ်တော်မူသည်။ ကျိုးကြောင်းဆင်ခြင် မြော်မြင်တော်မူသည်။ အကယ်၍ ထိုအရှင်မြတ်သည် ကာဖိရ်များ၏ တောင်းဆိုချက်အားလုံးကို ဖြည့်စွမ်းပေးတော် မူလိုက်ပါကလည်း ယင်းကာဖိရ်များသည် အမှန်တရားကို လက်ခံနာယူ ကျင့်မူကြမည်မဟုတ်ပေ။ အမှန်တရားကို လက်ခံနာယူ ကျင့်မူလိုသူတို့အဖို့ တမန်တော်မြတ်၏ မှန်ကန်မှုနှင့် စပ်လျဉ်း၍ တမန်တော်မြတ်အား ချီးမြှင့်ထားတော်မူသော သက်သေလက္ခဏာတော်များနှင့် တန်ခိုးတော်များသည် လိုသည်ထက်ပင် ပိုလျက်ရှိပေပြီ။ သို့ဖြစ်ပေရာ မရိုးသားသော စိတ်စေတနာ မဖြူစင်သော ကာဖိရ်များ၏ အဓိပ္ပါယ်ကင်းမဲ့သော၊ မလိုသော တောင်းဆိုချက်များကို ဖြည့်စွမ်းပေးတော်မူရန် မလိုပေ။ ဆန်စဉ်ရာ ကျည်ပွေ့လိုက်ရန်မလိုပေ။

بَلْ كَذَّبُوا بِالسَّاعَةِ وَأَعْتَدْنَا لِمَنْ كَذَّبَ بِالسَّاعَةِ سَعِيرًا ﴿١١﴾

၁၁။ ထိုသို့ အလျှင်းမဟုတ်၊ စင်စစ်မှာကား ၎င်းတို့သည် 'ကိယာမတ်' ရှင်ပြန်ထမည့်နေ့ကို မဟုတ်မမှန်ဟူ၍ ငြင်းပယ်ကြကုန်၏။ စင်စစ် ငါအရှင်မြတ်သည် 'ကိယာမတ်' ရှင်ပြန်ထမည့်နေ့ကို မဟုတ်မမှန်ဟူ၍ *ငြင်းပယ်သောသူ၏အဖို့ မီးတောက် မီးလျှံကို အဆင်သင့် ပြုလုပ်၍ ထားတော်မူပြီးဖြစ်သည်။* [၁]

إِذَا رَأَتْهُم مِّن مَّكَانٍۭ بَعِيدٍ سَمِعُوا لَهَا تَغَيُّظًا وَزَفِيرًا ﴿١٢﴾

၁၂။ ယင်း မီးတောက်မီးလျှံသည် ထိုသူတို့အား အဝေးမှ မြင်လေသောအခါ၊ ထိုသူတို့သည် ယင်း မီးတောက်မီးလျှံ၏ ဆူညံခြင်းနှင့် အမျက်ဒေါသထွက်ခြင်းကို လည်းကောင်း၊ မြည်ဟိန်းခြင်းကို လည်းကောင်း၊ ကြားကြရပေမည်။

وَإِذَا أُلْقُوا مِنْهَا مَكَانًا ضَيِّقًا مُّقَرَّنِينَ دَعَوْا هُنَالِكَ ثُبُورًا ﴿١٣﴾

၁၃။ ထို့ပြင် ၎င်းတို့သည် ယင်းငရဲ၌ ကျဉ်းမြောင်းသော နေရာတစ်ခုခုတွင် (သံကြိုးများဖြင့်) ခြေလက်တုပ်နှောင်လျက် ပစ်ချခြင်းခံကြရသောအခါ ၎င်းတို့သည် ထိုနေရာ၌ ပျက်စီးခြင်း (မရဏာသေခြင်းတရား)ကို ဟစ်ခေါ်ကြပေမည်။

---

(၁) တမန်တော်မြတ်ထံတွင် ကာဖိရ်များ ယင်းသို့အမျိုးမျိုး တောင်းဆိုကြခြင်းမှာ အမှန်တရားကို လက်ခံနာယူကျင့်မူလို၍ စေတနာရိုးရိုးဖြင့် တောင်းဆိုခြင်းမဟုတ်၊ ယုတ်မာသော စိတ်ထားဖြင့်တမန်တော်မြတ်အား တမင်သက်သက် စိတ်အနှောင့်အယှက် ဖြစ်စေရန် အတွက်သာဖြစ်သည်။ အမှန်မှာ ယင်းကာဖိရ်များသည် 'ကိယာမတ်' ဖြစ်မည်ကိုပင် မယုံကြည်ပေ။ သို့ မယုံကြည်ကြသည့်အတွက် ၎င်းတို့သည် တမလွန်အရေးကို မတွေးကြဘဲ ဆင်ခြင်တုံတရား ကင်းမဲ့ကာ မိုက်ချင်တိုင်းမိုက်၊ ဆိုးချင်တိုင်းဆိုးပြီး၊ မှားချင်တိုင်း မှားလျက်ရှိကြပေသည်။ ကာဖိရ်များသည် ကိယာမတ်ကို မည်သို့ပင် ငြင်းပယ်ကြသော်လည်း၊ အချိန်တန်သောအခါ ကိယာမတ်ဖြစ်ပေါ် လာမည်သာဖြစ်သည်။ အလ္လာဟ်အရှင်မြတ်သည်လည်း ကိယာမတ်ကို ငြင်းပယ်သူများအတွက် ကြောက်မက်ဖွယ်ရာ ငရဲမီးကို အသင့်ပြုလုပ် ထားတော်မူသည်။ နောက်ဆုံးတွင် ကာဖိရ်များသည် ထိုသည့် ငရဲမီးသို့ မရှုမလှ လားကြရမည်သာတည်း။ ဤကား၊ မည်သူမပြု၊ မိမိမှုပင်။

لَا تَدۡعُوا الۡيَوۡمَ ثُبُوۡرًا وَّاحِدًا وَّادۡعُوۡا ثُبُوۡرًا كَثِيۡرًا ﴿١٤﴾

၁၄။ (ထိုအခါ ၎င်းတို့သည် ဤသို့ပြောကြားခြင်းကို ခံကြရပေမည်။) အသင်တို့သည် ယနေ့ တစ်ခုတည်းသော ပျက်စီးခြင်း (မရဏာသေခြင်းတရား)ကို ဟစ်ခေါ်ခြင်း မပြုကြကုန်လင့်၊ မြောက်မြားစွာသော ပျက်စီးခြင်း (မရဏာသေခြင်းတရား)များကို ဟစ်ခေါ်ကြလေကုန်။

قُلۡ اَذٰلِكَ خَيۡرٌ اَمۡ جَنَّةُ الۡخُلۡدِ الَّتِىۡ وُعِدَ الۡمُتَّقُوۡنَ‌ؕ كَانَتۡ لَهُمۡ جَزَآءً وَّمَصِيۡرًا ﴿١٥﴾

၁၅။ (အို-နဗီတမန်တော်) အသင်သည် (၎င်းတို့အား ဤသို့)ပြောကြားပါလေ။ (အချင်းတို့၊) ဤ(ဒုက္ခ)သည် ကောင်းလေသလော၊ သို့တည်းမဟုတ် 'မွတ္တကီ' သူတော်စင်များ ကတိပေးခြင်းခံကြရသော အမြဲထာဝစဉ် နေထိုင်စံမြန်းကြရမည့် 'ဂျန္နတ်' သုခသည် *ကောင်းမြတ်လေသလော။* [၁] ယင်း ဂျန္နတ်သုခသည် ထိုမွတ္တကီသူတော်စင်တို့အဖို့ အကျိုးလည်းဖြစ်သည်။ နောက်ဆုံး ပြန်လည်ရာ ဌာနလည်းဖြစ်ပေသည်။

لَهُمۡ فِيۡهَا مَا يَشَآءُوۡنَ خٰلِدِيۡنَ‌ؕ كَانَ عَلٰى رَبِّكَ وَعۡدًا مَّسۡـُٔوۡلًا ﴿١٦﴾

၁၆။ ၎င်းတို့သည် ယင်း'ဂျန္နတ်' သုခတွင် မိမိတို့အလိုရှိကြသည်များကို ရရှိကြပေမည်။ ၎င်းတို့သည် ယင်း(ဂျန္နတ်သုခ)၌ အမြဲထာဝစဉ် နေထိုင်စံမြန်းသူများဖြစ်ကြပေမည်။ (ဤသည်)အသင့်အားဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်အပေါ်၌ (ကျေးဇူးတော်အလျောက်) လျှောက်ထားအပ်သောကတိပင် ဖြစ်ပေသတည်း။

---

(၁) **'ဂျန္နတ်' နှင့် 'ဂျဟန္နမ်' အဘယ်အရာက ကောင်းသနည်း။**

အထက်တွင် ကာဖိရ်များ လားကြရမည့် ဂျဟန္နမ် ငရဲအကြောင်းပါရှိ၏။ ဤအာယတ်တော်တွင် မွတ္တကီ သူတော်စင်များအမြဲ ထာဝစဉ် စံစားကြရမည့်၊ လိုတရသည့် ဂျန္နတ် အမတသုခ အကြောင်းပါရှိသည်။ အဆိုပါ နှစ်မျိုးအနက် အဘယ်အရာက ကောင်းသနည်း လူတိုင်းအသိပင်၊ သို့ဖြစ်ရာ လူတိုင်းသည် မိမိကြိုက်နှစ်သက်ရာကို ရွေးချယ်ရန်သာရှိသည်။ ဂျန္နတ်သည် (အီမာန်) ယုံကြည်မှုနှင့် အမိန့်တော်နာခံမှု၏ အကျိုးပင်ဖြစ်သည်။ ဂျဟန္နမ်သည် (ကုဖ်ရ်) မယုံကြည်မှုနှင့် အမိန့်တော် သွေဖည်ပုန်ကန်မှု၏ အကျိုးပင် ➤➤

وَيَوْمَ يَحْشُرُهُمْ وَمَا يَعْبُدُونَ مِن دُونِ اللَّهِ فَيَقُولُ ءَأَنتُمْ أَضْلَلْتُمْ عِبَادِي هَٰؤُلَاءِ أَمْ هُمْ ضَلُّوا السَّبِيلَ ﴿١٧﴾

၁၇။ ၎င်းပြင် အကြင်နေ့တွင် ထိုအရှင်မြတ်သည် ထိုသူတို့အားလည်းကောင်း၊ ထိုသူတို့သည် အလ္လာဟ် အရှင်မြတ်အပြင် ကိုးကွယ်ကြသော သူတို့အား လည်းကောင်း၊ စုရုံးတော်မူပြီးလျှင် 'အသင်တို့သည်ပင် ငါအရှင်မြတ်၏ ဤကျွန်များကို လမ်းလွဲစေခဲ့ကြ လေသလော၊ သို့တည်းမဟုတ် ၎င်းတို့ကိုယ်တိုင်ပင် လမ်းလွဲခဲ့ကြလေသလော'ဟု မေးမြန်းတော်မူပေမည်။

قَالُوا سُبْحَانَكَ مَا كَانَ يَنبَغِي لَنَا أَن نَّتَّخِذَ مِن دُونِكَ مِنْ أَوْلِيَاءَ وَلَٰكِن مَّتَّعْتَهُمْ وَآبَاءَهُمْ حَتَّىٰ نَسُوا الذِّكْرَ وَكَانُوا قَوْمًا بُورًا ﴿١٨﴾

၁၈။ (ထိုအခါ) ၎င်းတို့သည် (ဤသို့)လျှောက်ထား ကြပေမည်။ (အို-အရှင်မြတ်၊) အရှင်မြတ်သည် စင်ကြယ် သန့်ရှင်းတော်မူပါ၏။ ကျွန်တော်မျိုးတို့ သည် အရှင်မြတ်အပြင် အခြားကာကွယ်စောင့်ရှောက် မည့် အဆွေခင်ပွန်းများ မပြုလုပ်ထိုက်ကြပါ။ သို့ရာတွင် အရှင်မြတ်သည် ထိုသူတို့အားလည်းကောင်း၊ ထိုသူ တို့၏ အဘ၊ ဘိုး၊ ဘေးတို့အားလည်းကောင်း၊ ချမ်းသာ ကြွယ်ဝစေတော်မူခဲ့ပါသည်။ နောက်ဆုံးတွင် ၎င်းတို့သည် (အရှင်မြတ်အား) သတိရခြင်းကိုပင် မေ့လျော့ကြပြီးလျှင် ၎င်းတို့ကိုယ်တိုင်ပင် ပျက်စီး သွားခဲ့ကြပါသည်။ ၁

➤➤ ဖြစ်သည်၊ ဂျဟန္နမ်ငရဲကို နှစ်ခြိုက်ပါက ကာဖိရ်တို့၏ လမ်းစဉ်ကို ရွေးချယ်လိုက်နာ ရမည်သာဖြစ်သည်။ ဂျန္နတ် အမတသုခကို နှစ်ခြိုက်ပါက မွတ္တကီသူတော်စင်များ၏လမ်းစဉ်ကို ဖဝါးခြေထပ်လိုက်နာကျင့်မှု ရမည်သာဖြစ်သည်။

① **မှနာဖစ်က်များနှင့် ၎င်းတို့၏ ကိုးကွယ်ရာများ၏ နောက်ဆုံးဖြစ်အင်။**

ကိယာမတ်နေ့တွင် အလ္လာဟ်အရှင်မြတ်သည် မုရှ်ရစ်က်များနှင့် ၎င်းတို့ ယုဉ်တွဲဆည်းကပ် ကိုးကွယ်ခဲ့ကြသော ၎င်းတို့၏ ကိုးကွယ်ရာများကို စုရုံးစေတော်မူပြီး၊ ကိုးကွယ်ရာများအား 'အသင်တို့သည် ဤမုရှ်ရစ်က်များကို မိမိတို့အား ယှဉ်တွဲဆည်းကပ်ကိုးကွယ်ရန် လှုံ့ဆော်ခဲ့ကြသလော။ သို့တည်းမဟုတ် ၎င်းတို့သည် ၎င်းတို့၏ မိုက်မဲမှုကြောင့် လမ်းမှားခဲ့ကြသလော' ဟု မေးမြန်းတော်မူအံ့။ ထိုအခါ ဆည်းကပ် ကိုးကွယ်ခြင်း ခံခဲ့ကြရသော ကိုးကွယ်ရာများက 'ကျွန်တော်မျိုးတို့၌ အရှင်မြတ်မှတစ်ပါး အခြား ဆည်းကပ် ကိုးကွယ်ရာ အလျှင်းမရှိပါ။ သို့ဖြစ်ရာ ကျွန်တော်မျိုးတို့က သူတစ်ပါးတို့အား ကျွန်တော်မျိုးတို့အား ယှဉ်တွဲ ဆည်းကပ်ကိုးကွယ်ရန် အသို့လျှင် အမိန့်ပေးဝံ့ကြပါအံ့နည်း။



فَقَدْ كَذَّبُوكُم بِمَا تَقُولُونَ فَمَا تَسْتَطِيعُونَ صَرْفًا وَلَا نَصْرًا ۚ وَمَن يَظْلِم مِّنكُمْ نُذِقْهُ عَذَابًا كَبِيرًا ⑲

၁၉။ ထိုသို့အားဖြင့် ၎င်းတို့သည် (အကိုးကွယ်ခံတို့သည်)အသင်တို့အား (ကိုးကွယ်သူတို့အား) အသင်တို့ပြောဆိုကြကုန်သောစကားနှင့်စပ်လျဉ်း၍ မဟုတ်မမှန်ဟူ၍ငြင်းပယ်ကြချေပြီ။ သို့ဖြစ်ပေရာ အသင်တို့သည် မည်သို့မျှ လွှဲရှောင်နိုင်ကြမည်လည်းမဟုတ်ပေ။ မည်သည့်အကူအညီကိုမျှ ရရှိနိုင်ကြမည်လည်း မဟုတ်ပေ။ စင်စစ်သော်ကားအသင်တို့အနက် မည်သူမဆိုမတရားပြုကျင့်သည်ရှိသော် ငါအရှင်မြတ်သည် ထိုသူအားကြီးလေးသောပြစ်ဒဏ်ကို မြည်းစမ်းစေတော်မူအံ့သတည်း။

وَمَا أَرْسَلْنَا قَبْلَكَ مِنَ الْمُرْسَلِينَ إِلَّا إِنَّهُمْ لَيَأْكُلُونَ الطَّعَامَ

၂၀။ စင်စစ်သော်ကား ငါအရှင်မြတ်သည် အသင့်အလျင် စေလွှတ်တော်မူခဲ့သော ရစူလ်တမန်တော်အပေါင်းတို့သည်လည်း ဧကန်မလွဲ အစားအစာကို မှီဝဲစားသုံးကြလေသည်။ ထို့ပြင်၎င်းတို့သည် ဈေးများတွင်လည်း လှည့်ပတ်သွားလာကြလေသည်။ ၁

➤➤ ဤမှရှိရစ်ကျ်များသည် ၎င်းတို့၏ မိုက်မဲမှုကြောင့် ၎င်းတို့ဘာသာ ၎င်းတို့ လမ်းမှားခဲ့ကြပါသည်။ ကျွန်တော်မျိုးတို့နှင့် မည်သို့မျှ မပတ်သက်ပါ။ အရှင်မြတ်သည် ၎င်းတို့နှင့်တကွ ၎င်းတို့၏ ဘိုးဘေးတို့အား လောကီစည်းစိမ်များကို ပေးသနားတော်မူခဲ့ပါသည်။ ၎င်းတို့သည် ယင်းသည့်ကျေးဇူးတော်များကို ကျေးဇူးတုံ့ပြန်သောအနေဖြင့်၊ ကျေးဇူးတော်ရှင်ဖြစ်တော်မူသော အရှင်မြတ်အား ဆည်းကပ်ကိုးကွယ် ကြရမည်သာဖြစ်ပါသည်။ ယခုမူ ၎င်းတို့သည် လောကီစည်းစိမ်များတွင် နစ်မွန်းပြီး၊ ကျေးဇူးတော်ရှင်အားပင် မေ့သွားခဲ့ကြပါသည်။ မောက်မာပလွှား ဝါကြွားလာခဲ့ကြပါသည်။ သွေဖည်ငြင်းဆန်လာခဲ့ပါသည်။ အရှင်မြတ်၏ တရားတော်များကို မနာယူခဲ့ပါ။ တမန်တော်များအား သွေဖည်ခဲ့ကြပါသည်။ နောက်ဆုံးတွင် ၎င်းတို့သည် ပျက်စီးခြင်းကြီးမက ပျက်စီးသွားခဲ့ကြပါသည်။ တစ်နည်းဆိုသော် အရှင်မြတ်၏ စေတနာမှာ ၎င်းတို့အဖို့ ၎င်းတို့၏ မိုက်မဲမှုကြောင့် ဝေဒနာဖြစ်ရပါပြီဟု လျှောက်ထားကြအံ့'။

ယင်းသို့ မုရှိရစ်ကျ်တို့၏ ကိုးကွယ်ရာများက လျှောက်ထားကြသည့်အခါ အလ္လာဟ်အရှင်မြတ်က မုရှိရစ်ကျ်များအား 'အသင်တို့၏ စကားများကို အသင်တို့၏ ကိုးကွယ်ရာများကပင် ငြင်းဆန်ကြပြီ၊ အသင်တို့၏ အပြစ်ကား ထင်ရှားပြီး၊ အသင်တို့သည် မိမိထံမှ ပြစ်ဒဏ်ကို မည်သို့မျှ ဖယ်ရှားနိုင်ကြမည်လည်း မဟုတ်ပြီ၊ မည်သူ့ထံမှ တစ်စုံတစ်ရာ အကူအညီရရှိနိုင်ကြမည်လည်း မဟုတ်ပြီ။ အသင်တို့အနက် ပြစ်မှုကျူးလွန်သူအားလုံးတို့အား ကြီးလေးသော ပြစ်ဒဏ် ခတ်တော်မူမည်' ဟု မိန့်ကြား၍ ပြစ်ဒဏ် စီရင်တော်မူအံ့သတည်း။

(၁) **<u>တမန်တော်များသည် လူသားများသာ ဖြစ်ကြပေသည်</u>။**

ဆိုလိုသည်ကား ပွင့်လေသမျှသော တမန်တော်များသည် လူသားများသာလျှင် ဖြစ်ခဲ့ကြသည်၊ ➤➤

وَيَمْشُونَ فِى الْأَسْوَاقِ ۗ وَجَعَلْنَا بَعْضَكُمْ لِبَعْضٍ فِتْنَةً ۗ أَتَصْبِرُونَ ۚ وَكَانَ رَبُّكَ بَصِيرًا ﴿٢٠﴾

စင်စစ်မှာမူကား ငါအရှင်မြတ်သည် အသင်တို့အနက် တစ်ဦးကို တစ်ဦး၏အဖို့ စမ်းသပ်မှုပင် ပြုလုပ်တော်မူခဲ့ပေသည်။ အသင်တို့သည် သည်းခံကြမည်လော။ ၁ စင်စစ်သော်ကား အသင့်အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်သည် အရာခပ်သိမ်းတို့ကို ကောင်းစွာ ရှုမြင်တော်မူသောအရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

---

➤➤ လူသားများဖြစ်ကြသည့် အလျောက်၊ လူသားတို့ မကင်းနိုင်သော စားဝတ်နေရေးတို့နှင့်လည်း မကင်းခဲ့ကြပေ။ အစာအာဟာရများကို စားသုံးခဲ့ကြရသည်။ အကြောင်းကိစ္စရှိက ဈေးတွင်းသို့လည်း သွားလာခဲ့ကြရပေသည်။ တမန်တော်များကား ကောင်းကင်တမန်များ မဟုတ်ခဲ့ကြပေ။ လူသားများသာ ဖြစ်ခဲ့ကြပေသည်။ ကြည့်-ကုရ်အာန် (၁၂:၁၀၉၊ ၂၁:၇-၈)။ ဤအကြောင်းနှင့် စပ်လျဉ်း၍ ကုရ်အာန် (၆:၈-၉၊ ၁၇:၉၄-၉၅) တွင် လာရှိပြီးဖြစ်သည်။ သက်ဆိုင်ရာ အဖွင့်များကို ပြန်လည်ရှုပါကုန်။

ဤသည်ကို ထောက်ရှုခြင်းအားဖြင့် အကြောင်းကိစ္စရှိက ဈေးများအတွင်းသို့ သွားလာခြင်းသည် (မက္ကရူဟ်) စက်ဆုပ်ဖွယ်ရာကိစ္စ မဟုတ်ကြောင်း သိရှိရပေသည်။ တမန်တော်မြတ်၏ အချို့ဩဝါဒတော်များတွင် ဈေးများအတွင်းသို့ မသွားအပ်ကြောင်း၊ ပါရှိသည်မှာ အကြောင်းမဲ့ သွားလာခြင်းကို ဆိုလိုသည်။ မိမိကိုယ်ကို အထင်ကြီးပြီး၊ မောက်မာ ပလွှားသောအားဖြင့် အကြောင်းရှိပါလျက်၊ ဈေးအတွင်းသို့ သွားလာခြင်းသည် မိမိ၏ ဂုဏ်သိက္ခာကို ညှိုးနွမ်းစေသည်ဟု ထင်မြင်သော်၊ ဈေးများအတွင်းသို့ မသွားမလာခြင်းသည် မကောင်းဖြစ်၍၊ သွားလာခြင်းသည် အကောင်းဖြစ်ပေမည်။ ထာနဝီ၊ အ-၄။ စ-၃၆။

(၁) **အချင်းချင်း အပြန်အလှန် စမ်းသပ်ရာ ဖြစ်သည်။**

ဤအာယတ်တော်၏ အလိုသဘောမှာ တမန်တော်မြတ်နှင့် တမန်တော်မြတ်၏ နောက်လိုက်တပည့်သား မွတ်စ်လင်မ်များသည် ကာဖိရ်များ၏ ယင်းသို့သော မဖွယ်ရာသော၊ မလျော်ကန်သော၊ အဓိပ္ပါယ်မရှိသော၊ ကဲ့ရဲ့ပြစ်တင်ပြောဆိုမှုများကြောင့် စိတ်ပျက်ကြရန်မလိုပေ။

အဘယ့်ကြောင့်ဆိုသော် အလ္လာဟ်အရှင်မြတ်သည် အချို့ကို အချို့အတွက် စမ်းသပ်ရန် ပြုလုပ်ထားတော်မူသည်၊ တမန်တော်များ၌ လူသားတို့၏ အဖြစ်အနေနှင့်လည်း ရှိသည်။ လူသားတို့မပြုစွမ်းနိုင်သော 'နုဗုဝါတ်' တမန်တော်ဖြစ်မှု၏ တန်ခိုးဂုဏ်အင် လက္ခဏာများလည်းရှိသည်။ သို့ဖြစ်ပေရာ တမန်တော်များ၌ လူသားတို့၏ အဖြစ်အနေကိုကြည့်ပြီး၊ မည်သူမည်ဝါတို့သည် တမန်တော်များအား သွေဖည်ကြသည်။ တမန်တော်များ၌ "နုဗုဝါတ်" တမန်တော်ဖြစ်မှု၏ တန်ခိုးဂုဏ်အင်လက္ခဏာများကို ကြည့်ပြီး မည်သူ မည်ဝါတို့သည် တမန်တော်များအား ယုံကြည်ကြသည်ကို စမ်းသပ်တော်မူရန်ဖြစ်သည်။သို့ဖြစ်ပေရာ တမန်တော်မြတ်နှင့် တမန်တော်မြတ်၏ နောက်လိုက်တပည့်သား မွတ်စ်လင်မ်များသည် စိတ်ပျက်ရန် မလိုပေ။ သည်းခံကြရမည်သာ ဖြစ်သည်။ ထာနဝီ။

وَقَالَ الَّذِينَ لَا يَرْجُونَ لِقَاءَنَا لَوْلَا أُنزِلَ عَلَيْنَا الْمَلَائِكَةُ أَوْ نَرَىٰ رَبَّنَا ۗ لَقَدِ اسْتَكْبَرُوا فِي أَنفُسِهِمْ وَعَتَوْ عُتُوًّا كَبِيرًا ﴿٢١﴾

၂၁။ စင်စစ် ငါအရှင်မြတ်နှင့်တွေ့ဆုံမှုကို မမျှော်လင့်ကြသော (မစိုးရိမ်ကြသော)သူတို့က အဘယ်ကြောင့် "မလာအိကဟ်" ကောင်းကင်တမန်များသည် ကျွန်ုပ်တို့ထံဆင်းသက်၍ မလာကြသနည်း။ သို့တည်းမဟုတ် အဘယ်ကြောင့် ကျွန်ုပ်တို့သည် မိမိတို့အားဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်ကို မဖူးမြော်ကြရပါသနည်း၊ ဟု ပြောဆိုကြကုန်၏။ စင်စစ်မလွဲ ၎င်းတို့သည်မိမိတို့စိတ်ထဲ၌ မိမိတို့ကိုယ်ကို အထင်ကြီးခဲ့ကြကုန်၏။ ထို့ပြင် ၎င်းတို့သည် အကြီးအကျယ်ဆိုးသွမ်းခြင်းအားဖြင့် စည်းကမ်းကျူးလွန်ခဲ့ကြကုန်၏။

يَوْمَ يَرَوْنَ الْمَلَائِكَةَ لَا بُشْرَىٰ يَوْمَئِذٍ لِّلْمُجْرِمِينَ وَيَقُولُونَ حِجْرًا مَّحْجُورًا ﴿٢٢﴾

၂၂။ အကြင်နေ့တွင် ၎င်းတို့သည် "မလာအိကဟ်" ကောင်းကင်တမန်တို့အား တွေ့မြင်ကြပေမည်။ ထိုနေ့တွင် ပြစ်မှုရှိသူတို့၌ မည်သည့် ဝမ်းမြောက်ခြင်းမျှ မရှိသည့်ပြင်၊ ၎င်းတို့သည် (ကောင်းကင်တမန်တို့နှင့်) *ကင်းပါရစေ၊ ကင်းဝေးပါစေဟု ပြောဆိုကြပေမည်။* [၁]

وَقَدِمْنَا إِلَىٰ مَا عَمِلُوا مِنْ عَمَلٍ فَجَعَلْنَاهُ هَبَاءً مَّنثُورًا ﴿٢٣﴾

၂၃။ ထို့ပြင် ငါအရှင်မြတ်သည် (ထိုနေ့တွင်) ၎င်းတို့ ပြုလုပ်ခဲ့ကြသော အပြုအမူများဘက်သို့ လှည့်တော် မူမည်။ ထို့နောက် ငါအရှင်မြတ်သည် ယင်းအပြုအမူ များကို *ကြဲဖြန့်ထားသော မြူမှုန့်များ ဖြစ်စေတော် မူမည်။* [၂]

---

(၁) **မှတ်ချက်။**

"ဟိဂျ်ရန်၊ မဟ်ဂျူရန်" ဟူသောဝေါဟာရသည် အမိုက်ခေတ်တွင် တစ်စုံတစ်ရာ ဘေးအန္တရာယ်ဆိုက်ရောက်သည့်အခါ သို့မဟုတ် မိမိအား တိုက်ခိုက်ရန်လာသော မိမိ၏ရန်သူကို တွေ့မြင်လိုက်ရသောအခါ ဘေးကင်းရန်အတွက် အော်ဟစ်သုံးနှုန်းလေ့ရှိသော ဝေါဟာရစကားတစ်ရပ်ပင် ဖြစ်သည်။

**မှတ်ချက်။**

အထက်ပါဖြစ်ရပ်သည် ကိယာမတ်နေ့တွင် ဖြစ်ပေါ်မည်ကား အမှန်မုချပင်။ ထို့ပြင်တစ်ဝ ဤပစ္စက္ခတွင်လည်း သေခါနီးအသက်ထွက်ချိန်၌လည်း ဖြစ်ပေါ်နိုင်ပေသည်။ ကြည့်–ကုရ်အာန် (၈:၅၀။၆:၉၄)။➤➤

أَصۡحَٰبُ ٱلۡجَنَّةِ يَوۡمَئِذٍ خَيۡرٞ مُّسۡتَقَرّٗا وَأَحۡسَنُ مَقِيلٗا ﴿٢٤﴾

၂၄။ "ဂျန္နတ်" သုခဘုံသားတို့မှာကား ထိုနေ့တွင် နေရာဌာနအားဖြင့်လည်း၊ အကောင်းဆုံးဖြစ်ကြပေမည်။ နေ့လည်အချိန် အနားယူ အပန်းဖြေသောနေရာအားဖြင့်လည်း အကောင်းဆုံးပင် ဖြစ်ကြအံ့သတည်း။

وَيَوۡمَ تَشَقَّقُ ٱلسَّمَآءُ بِٱلۡغَمَٰمِ وَنُزِّلَ ٱلۡمَلَٰٓئِكَةُ تَنزِيلًا ﴿٢٥﴾

၂၅။ ၎င်းပြင် အကြင်နေ့တွင် မိုးကောင်းကင်သည် မိုးတိမ်(ထွက်ပေါ်လာသည့်)အတွက် ပွင့်သွားပေမည်။ မိုးတိမ်နှင့်တကွ အက်ကွဲ၍ သွားပေမည်။ ထို့ပြင် "မလာအိကဟ်" ကောင်းကင်တမန်တို့သည် ဆင်းသက်၍ လာကြပေမည်။

ٱلۡمُلۡكُ يَوۡمَئِذٍ ٱلۡحَقُّ لِلرَّحۡمَٰنِۚ وَكَانَ يَوۡمًا عَلَى ٱلۡكَٰفِرِينَ عَسِيرٗا ﴿٢٦﴾

၂၆။ ထိုနေ့တွင် စိုးမိုးအုပ်ချုပ်မှု အစစ်အမှန်သည် "ရဟ်မာန်" ကရုဏာတော်ရှင်၌သာ ရှိပေမည်။ စင်စစ် ထိုနေ့သည် "ကာဖိရ်"သွေဖည်ငြင်းပယ်သောသူတို့အဖို့ လွန်စွာ ခက်ခဲသောနေ့ပင်ဖြစ်ချိမ့်မည်။

➤➤ ကာဖိရ်များအဖို့ ကောင်းကင်တမန်များအား တွေ့မြင်ရခြင်းသည် အမင်္ဂလာဖြစ်သော်လည်း မုအ်မင်န်သူတော်စင်များအဖို့မှာကား မဟာမင်္ဂလာဖြစ်ပေသည်။ ကြည့်-ကုရ်အာန် (၄၁း၃၀-၃၂)။

(၂) တစ်ရက် ငါတို့သည် အလ္လာဟ်အရှင်မြတ်၏ ရှေ့တော်မှောက်သို့ရောက်ပြီး၊ မိမိတို့၏ အပြုအမူများနှင့် စပ်လျဉ်း၍ စာရင်းရှင်းခံကြရမည်ကို မယုံကြည်သူများက၊ လူ့လောကတွင်ရှိခဲ့ကြစဉ် အလ္လာဟ်အရှင်မြတ်အား ငါတို့ဘာကြောင့် မဖူးမြင်ကြရပါသနည်းဟု ပြက်ရယ်သည့်သဘောဖြင့် ပြောဆိုလေ့ရှိခဲ့ကြသည်။ ထိုသို့သောသူများအား ကိယာမတ်နေ့တွင် အလ္လာဟ်အရှင်မြတ်က-"ငါအရှင်မြတ် ကြွလာတော်မူပြီ"ဟု မိန့်ကြားတော်မူပေမည်။ သို့ရာတွင် အလ္လာဟ်အရှင်မြတ် ယင်းသို့ ကြွလာတော်မူခြင်းမှာ ထိုသူများအား ချီးမြှောက်အားပေးတော်မူရန်မဟုတ်၊ ထိုသူများသည် မိမိတို့၏ မှားယွင်းသော ထင်မြင်ချက်များအရ ပြုမူခဲ့ကြသော မိမိတို့ အားထားခဲ့ကြရသော ကောင်းမှုများမှာ အသို့မျှတန်ဖိုးမရှိ၊ အချည်းနှီးမျှသာဖြစ်သည်ကို ပြသတော်မူရန်သာ ဖြစ်ပေသည်။ အဘယ်ကြောင့်ဆိုသော် ထိုသူများ၏ အကျင့်အမူများတွင် အီမာန်မပါ၊ စေတနာ သဒ္ဓါတရားမပါ၊ အမှန်တရားနှင့် ဖြောင့်ဖြောင့်ကြီးဆန့်ကျင်သော အကျင့်အမူများသာ ဖြစ်ခဲ့ပေသည်။ ဤသည့်သဘောကို ကုရ်အာန်ကျမ်းမြတ် (၁၄း၁၈)တွင်လည်း မိန့်ဆိုထားတော်မူသည်။

وَيَوْمَ يَعَضُّ الظَّالِمُ عَلَىٰ يَدَيْهِ يَقُولُ يَا لَيْتَنِي اتَّخَذْتُ مَعَ الرَّسُولِ سَبِيلًا ﴿٢٧﴾

၂၇။ ထိုမှတပါး အကြင်နေ့တွင် မတော်မတရား ပြုမူသောသူသည် "သြော်-ငါသည် ရစူလ်တမန်တော် မြတ်နှင့်အတူ တရားလမ်းမှန်ကို လိုက်ခဲ့သော်၊ ကောင်းလေစွ" ဟု ပြောဆိုလျက် မိမိလက်နှစ်ဖက် ကို ကိုက်ပေမည်။

يَا وَيْلَتَىٰ لَيْتَنِي لَمْ أَتَّخِذْ فُلَانًا خَلِيلًا ﴿٢٨﴾

၂၈။ သြော်-ဖြစ်မှဖြစ်ရလေခြင်း၊ ငါသည် မည်သူ မည်ဝါကို အဆွေခင်ပွန်း မပြုခဲ့လျှင် တော်လေစွ။

لَّقَدْ أَضَلَّنِي عَنِ الذِّكْرِ بَعْدَ إِذْ جَاءَنِي ۗ وَكَانَ الشَّيْطَانُ لِلْإِنسَانِ خَذُولًا ﴿٢٩﴾

၂၉။ မုချကေန် ၎င်းသည် ကျွန်ုပ်ထံသို့ ဆုံးမ သြဝါဒရောက်ရှိလာပြီး နောက်မှပင် ထိုဆုံးမသြဝါဒ (ကို လိုက်နာခြင်း)မှ လွဲချော်စေခဲ့သည်။ စင်စစ် သော်ကား ရှိုင်တွာန်မိစ္ဆာကောင်သည် လူသားတို့အား စွန့်ပစ်ထားသူပင် ဖြစ်ချေသတည်း။

وَقَالَ الرَّسُولُ يَا رَبِّ إِنَّ قَوْمِي اتَّخَذُوا هَٰذَا الْقُرْآنَ مَهْجُورًا ﴿٣٠﴾

၃၀။ ထို့ပြင် ရစူလ်တမန်တော်မြတ်က "အို- ကျွန်တော်မျိုးအား ဖန်ဆင်းမွေးမြူတော်မူသောအရှင် မြတ်၊ ကေန်အမှန် ကျွန်တော်မျိုး၏ အမျိုးသားများ သည် *ဤကုရ်အာန်ကျမ်းမြတ်တော်ကို စွန့်ပစ်၍ ထားခဲ့ကြပါသည်" ဟု လျှောက်ထားပေမည်။* [၁]

---

(၁) **ကုရ်အာန်ကျမ်းမြတ်ကို လျစ်လျူရှုထားသူများနှင့်ပတ်သက်၍ တမန်တော်မြတ်တိုင်ကြားတော်မူမည်။**

ဆိုလိုသည်ကား- တမန်တော်မြတ်၏ အမျိုးသားများအနက် အချို့ကာဖိရ်များသည် ကုရ်အာန်ကျမ်းလာ တရားတော်များကို မလိုမုန်းတီးသည့်အတွက် ဖွတ်မိတ်၍ သွေဖည်ငြင်းပယ်ခဲ့ကြသည်။ အနည်းငယ်စိုးစဉ်းမျှပင် မနာခံခဲ့ကြပေ။ ကုရ်အာန်ကျမ်းလာ တရားတော်များကို တမန်တော်မြတ်က ရွတ်ဖတ်ပြလျှင် ၎င်းတို့သည် ဆူဆူညံညံပြုလုပ်ခဲ့ကြပေသည်။ ၎င်းတို့သည် မိမိတို့ကိုယ်တိုင်လည်း ကုရ်အာန်ကျမ်းလာ တရားတော်များကို နားမထောင်ခဲ့ကြပေ။ သူတစ်ပါးတို့အားလည်း နားထောင်ခွင့်မပေးခဲ့ကြပေ။ ထိုရွေ့ထိုမျှ စိတ်နှလုံးခဲယဉ်းသော၊ မလိုမုန်းတီးသော ဆိုးသွမ်းမိုက်မဲသော သွေဖည်ဆန့်ကျင်သော ကာဖိရ်များနှင့်ပတ်သက်၍ တမန်တော်မြတ်သည် အလ္လာဟ်အရှင်မြတ်ထံတော်၌ "အို- ကျွန်တော်မျိုး၏အရှင်သခင်၊ ကျွန်တော်မျိုး၏(ဤ) အမျိုးသားများသည် ဤကုရ်အာန်ကျမ်းမြတ်ကိုပင် လုံးဝလျစ်လျူရှုထား ခဲ့ကြပါသည်"ဟု လျှောက်ထား တိုင်ကြားတော်မူပေမည်။

وَكَذٰلِكَ جَعَلْنَا لِكُلِّ نَبِيٍّ عَدُوًّا مِّنَ الْمُجْرِمِينَ ۗ وَكَفٰى بِرَبِّكَ هَادِيًا وَّنَصِيرًا ﴿٣١﴾

၃၁။ စင်စစ်ငါအရှင်မြတ်သည် ဤနည်းအတိုင်းပင် နဗီတမန်တော်တိုင်း၌ပြစ်မှုရှိသူတို့အနက်မှ ရန်သူများ ပြုလုပ်တော်မူခဲ့၏။ စင်စစ် အသင့်အား ဖန်ဆင်း မွေးမြူတော်မူသောအရှင်မြတ်သည်ပင် တရားလမ်းမှန်သို့ ပို့ဆောင်တော်မူသောအရှင်အဖြစ်လည်းကောင်း၊ ကူညီဆောင်မသူအဖြစ်လည်းကောင်း၊ လုံလောက်တော်မူပေသတည်း။

وَقَالَ الَّذِينَ كَفَرُوا لَوْلَا نُزِّلَ عَلَيْهِ الْقُرْاٰنُ جُمْلَةً وَّاحِدَةً ۚ كَذٰلِكَ ۚ لِنُثَبِّتَ بِهٖ فُؤَادَكَ وَرَتَّلْنٰهُ تَرْتِيلًا ﴿٣٢﴾

၃၂။ ၎င်းပြင် ကာဖိရ် သွေဖယ်ငြင်းပယ်သောသူတို့က *"အဘယ်ကြောင့် ကုရ်အာန်ကျမ်းတော်မြတ်သည် ထိုသူ၏အပေါ်၌ တစ်ကြိမ်တည်း (အစအဆုံး) အလုံးစုံ ချပေးခြင်းကို မခံခဲ့ရပါသနည်း၊"* [၁] ဟု ပြောဆိုကြကုန်၏။ ယင်း(သို့ အလီလီချပေးတော်မူခြင်း)မှာ ငါအရှင်မြတ်သည် အသင်၏စိတ်နှလုံးကို ကြံ့ခိုင်စေတော်မူအံ့သောငှာဖြစ်၏။ ၎င်းပြင် ငါအရှင်မြတ်သည်ယင်းကုရ်အာန်ကျမ်းတော်မြတ်ကို တဖြည်းဖြည်း ဆိုင်းငံ့၍ ချပေးသနားတော်မူခဲ့၏။

(၁) ကာဖိရ်များက- ကုရ်အာန်ကျမ်းမြတ်သည် တမန်တော်မြတ်အပေါ်သို့ တစ်လုံးတစ်ဝတည်း အစအဆုံး တစ်ကြိမ်တည်း အဘယ်ကြောင့် ကျရောက်မလာခဲ့ပါသနည်းဟု စောဒနာတက်ကြသည်။ ဤသို့ စောဒနာတက်ခြင်းမှာ အဓိပ္ပာယ်မရှိပေ။ တမန်တော်မြတ်နှင့်ပတ်သက်၍ မိမိတို့၏နောက်လိုက် ငယ်သားများအား အထင်အမြင်မှားစေရန် လှည့်ဖြားခြင်းသာဖြစ်သည်။ အဘယ်ကြောင့်ဆိုသော် တွေးဆဆင်ခြင်ကြည့်ပါက၊ ကုရ်အာန်ကျမ်းမြတ်ကို လိုအပ်သည်နှင့်အမျှ တဖြည်းဖြည်း ထုတ်ပြန်ပို့ချခြင်းတွင် များစွာသောအကျိုးများကို တွေ့ရှိရပေသည်။

ဥပမာ- ကုရ်အာန်ကျမ်းမြတ်ကို တဖြည်းဖြည်း ထုတ်ပြန်ပို့ချတော်မူခြင်းအားဖြင့် စိတ်နှလုံးလည်း တည်ငြိမ်ပေသည်။ အာယတ်တော်များကိုလည်း အလွယ်တကူ ကျက်မှတ်ထားနိုင်ပေသည်။ အာယတ်တော် အသီးသီး၏ အနက်သဘောကိုလည်း တိကျမှန်ကန်စွာ နားလည်သဘောပေါက်နိုင်ပေသည်။ အာယတ်တော်များ ပို့ချတော်မူခြင်း၏ အကြောင်းများကိုလည်း ကောင်းစွာသိရှိနားလည်ခွင့် ရရှိပေသည်။ ပြဿနာတစ်ရပ် ပေါ်ပေါက်ချိန်တွင် ထိုပြဿနာနှင့်စပ်လျဉ်း၍ အာယတ်တော် ကျရောက်လာခြင်းဖြင့် ပြေလည်မှု၊ စိတ်ချမ်းသာမှုများလည်းရရှိလာပေသည်။ အာယတ်တော်များတဖြည်းဖြည်း ကျရောက်ခြင်းဖြင့် ကောင်းကင်တမန် ဂျိဗ်ရီလ်သည်လည်း မကြာခဏ ဆင်းသက်လာပေသည်။ ကောင်းကင်တမန် ဂျိဗ်ရီလ်ဆင်းသက်ခြင်းသည်လည်း ▶▶

وَلَا يَأْتُونَكَ بِمَثَلٍ إِلَّا جِئْنَاكَ بِالْحَقِّ وَأَحْسَنَ تَفْسِيرًا ﴿٣٣﴾

၃၃။ စင်စစ်သော်ကား ၎င်းတို့သည် အသင့်ထံသို့ မည်မျှပင် အံ့ဖွယ်ထူးဆန်းသော ဥပမာ ပုံဆောင်ချက်ကိုပင် ယူဆောင်၍ လာကြစေကာမူ၊ ငါအရှင်မြတ်သည် တိကျမှန်ကန်သည့်ပြင် ရှင်းလင်းဖော်ပြချက်အားဖြင့် ပိုမို၍ကောင်းမွန်သော (၎င်း၏)အဖြေကို အသင့်ထံသို့ ပို့ဆောင်တော်မူခဲ့သည်ချည်းသာ။

الَّذِينَ يُحْشَرُونَ عَلَىٰ وُجُوهِهِمْ إِلَىٰ جَهَنَّمَ أُولَٰئِكَ شَرٌّ مَّكَانًا وَأَضَلُّ سَبِيلًا ﴿٣٤﴾

၃၄။ ထိုသူတို့ပင် "ဂျဟန္နမ်" ငရဲဘုံသို့ မျက်နှာမှောက်လျက် (တရွတ်တိုက်ဆွဲကာ) ပို့ဆောင်ခြင်းကို ခံကြရပေမည်။ ထိုသူတို့ကား နေရာဌာနအားဖြင့် အဆိုးဆုံးသောသူများ၊ တရားလမ်းစဉ်အားဖြင့် လွန်စွာမှားယွင်းသောသူများသာ ဖြစ်ကြကုန်သတည်း။

وَلَقَدْ آتَيْنَا مُوسَى الْكِتَابَ وَجَعَلْنَا مَعَهُ أَخَاهُ هَارُونَ وَزِيرًا ﴿٣٥﴾

၃၅။ ထိုမှတပါး စင်စစ်ဧကန် ငါအရှင်မြတ်သည် မူစာအား (တောင်ရာတ်)ကျမ်းဂန်ကို ချီးမြှင့်ပေးသနားတော်မူခဲ့၏။ ၎င်းပြင် ထိုမူစာနှင့်အတူ ၎င်း၏နောင်တော်ဟာရူန်အား ကူညီဖော် ကူညီဖက်အဖြစ် ပြုလုပ်ပေးတော်မူခဲ့၏။

فَقُلْنَا اذْهَبَا إِلَى الْقَوْمِ الَّذِينَ كَذَّبُوا بِآيَاتِنَا فَدَمَّرْنَاهُمْ تَدْمِيرًا ﴿٣٦﴾

၃၆။ ထို့နောက် ငါအရှင်မြတ်သည် (၎င်းတို့နှစ်ပါးအား)အသင်တို့နှစ်ဦးသည် ငါအရှင်မြတ်၏ သက်သေလက္ခဏာတော်များကို မဟုတ်မမှန်ဟူ၍ ငြင်းပယ်ခဲ့ကြကုန်သော အမျိုးသားတို့ထံ သွားကြလေကုန် ဟု မိန့်ကြားတော်မူခဲ့၏။

➤➤ မင်္ဂလာတစ်ပါးပင်။ ဤသည့် အကျိုးများသည် ကုရ်အာန်ကျမ်းမြတ် တဖြည်းဖြည်းကျရောက်ခြင်းမှ ထွက်ပေါ်လာသော အကျိုးအမြတ်များပင်။

ကုရ်အာန်ကျမ်းမြတ် တစ်ချိန်တည်း၊ တစ်ကြိမ်တည်း တစ်လုံးတစ်ဝတည်း အစအဆုံး ကျရောက်လာခဲ့ပါက၊ ဤသည့်အကျိုးများကို ခံစားရမည်မဟုတ်ပေ။

ဤအကြောင်းနှင့်စပ်လျဉ်း၍ ကုရ်အာန်ကျမ်းမြတ်(၁၇း၁၀၆)၏ အဖွင့်တွင် အကျယ်ဖွင့်ဆို ရေးသားခဲ့ပေပြီ။

(ထိုအခါ ၎င်းတို့နှစ်ပါးသည် ထိုအမျိုးသားတို့ထံ သွားရောက်၍ သာသနာပြုခဲ့ကြသော်လည်း ၎င်းတို့သည် ယုံကြည်လက်ခံခြင်းမပြုဘဲ ငြင်းပယ်ခဲ့ကြလေသည်)။ သို့ဖြစ်ပေရာ ငါအရှင်မြတ်သည် ထိုအမျိုးသားတို့အား လုံးဝဖျက်ဆီးတော်မူခဲ့၏။

وَقَوْمَ نُوحٍ لَّمَّا كَذَّبُوا الرُّسُلَ أَغْرَقْنَاهُمْ وَجَعَلْنَاهُمْ لِلنَّاسِ آيَةً ۖ وَأَعْتَدْنَا لِلظَّالِمِينَ عَذَابًا أَلِيمًا ﴿٣٧﴾

၃၇။ ထိုနည်းတူစွာ နူဟ်၏ အမျိုးသားတို့အား ၎င်းတို့သည် ရစူလ်တမန်တော်များအား မဟုတ်မမှန်ဟူ၍ ငြင်းပယ်ခဲ့ကြသောအခါ ငါအရှင်မြတ်သည် ၎င်းတို့အားလည်း နစ်မြုပ်စေတော်မူခဲ့၏။ ထို့ပြင် ငါအရှင်မြတ်သည် ၎င်းတို့အား လူခပ်သိမ်းတို့အဖို့ သက်သေ လက္ခဏာတစ်ရပ် ပြုလုပ်တော်မူခဲ့၏။ ၎င်းပြင် ငါအရှင်မြတ်သည် မတော်မတရား ပြုလုပ်သောသူတို့အဖို့ ပြင်းပြနာကျင်ဖွယ်ဖြစ်သော ပြစ်ဒဏ်ကို အဆင်သင့် ပြုလုပ်၍ ထားရှိတော်မူသည်။

وَعَادًا وَثَمُودَا۟ وَأَصْحَـٰبَ ٱلرَّسِّ وَقُرُونًۢا بَيْنَ ذَٰلِكَ كَثِيرًا ﴿٣٨﴾

၃၈။ ထိုမှတပါး အာဒ်အမျိုးသားတို့အားလည်းကောင်း၊ ဆမူဒ်အမျိုးသားတို့အားလည်းကောင်း၊ "ရတ်စ္စ"မြို့သားတို့အားလည်းကောင်း၊ ၎င်းတို့အကြား၌ မြောက်မြားစွာသောမျိုးနွယ်တို့အားလည်းကောင်း၊ (ငါအရှင်မြတ်သည် ဖျက်ဆီးတော်မူခဲ့၏။)

وَكُلًّا ضَرَبْنَا لَهُ ٱلْأَمْثَـٰلَ ۖ وَكُلًّا تَبَّرْنَا تَتْبِيرًا ﴿٣٩﴾

၃၉။ စင်စစ် ငါအရှင်မြတ်သည် (ထိုထိုသောအမျိုးသားတို့အနက်) အသီးသီးတို့၏အကျိုးငှာ ဥပမာပုံဆောင်ချက်များကို ခိုင်းနှိုင်းတော်မူခဲ့၏။ (သို့ပါလျက် ၎င်းတို့သည် မဟုတ်မမှန်ဟူ၍ပင် ငြင်းပယ်ခဲ့ကြ၏၊) ထိုအခါ ငါအရှင်မြတ်သည် အသီးသီးတို့အား လုံးဝဖျက်ဆီးတော်မူခဲ့၏။

وَلَقَدْ أَتَوْا عَلَى الْقَرْيَةِ الَّتِي أُمْطِرَتْ مَطَرَ السَّوْءِ ۚ أَفَلَمْ يَكُونُوا يَرَوْنَهَا ۚ بَلْ كَانُوا لَا يَرْجُونَ نُشُورًا ﴿٤٠﴾

၄၀။ စင်စစ်သော်ကား ၎င်းတို့သည် (မက္ကာမြို့သား ကာဖိရ်များသည်) အလွန်ဆိုးရွားသော မိုးရွာသွန်းစေခြင်းကို ခံခဲ့ရသောမြို့ရွာသို့ ဧကန်အမှန် ရောက်ရှိခဲ့ကြကုန်၏။ သို့ပါလျက် ၎င်းတို့သည် ယင်း(ပြစ်ဒဏ်၏အမှတ်လက္ခဏာများ)ကို မမြင်ခဲ့ကြလေသလော။ ထိုသို့ အလျှင်းမဟုတ်။ စင်စစ်မှာမူကား ၎င်းတို့သည် ရှင်ပြန်ထခြင်းကို *ဖြစ်ရန်လက္ခဏာရှိသည်ဟူ၍ပင် မမျှော်လင့်ကြပေ။* [၁]

وَإِذَا رَأَوْكَ إِنْ يَتَّخِذُونَكَ إِلَّا هُزُوًا أَهَٰذَا الَّذِي بَعَثَ اللَّهُ رَسُولًا ﴿٤١﴾

၄၁။ ၎င်းပြင် ထိုသူတို့သည် အသင့်အား တွေ့မြင်ကြသောအခါ "အလ္လာဟ်အရှင်မြတ်သည် ရစူလ်တမန်တော်အဖြစ်စေလွှတ်တော်မူသောသူသည် ဤသူပင်လော" ဟု အသင့်အား ပြောင်လှောင်ကြကုန်၏။

إِنْ كَادَ لَيُضِلُّنَا عَنْ آلِهَتِنَا لَوْلَا أَنْ صَبَرْنَا عَلَيْهَا ۚ وَسَوْفَ يَعْلَمُونَ حِينَ يَرَوْنَ الْعَذَابَ مَنْ أَضَلُّ سَبِيلًا ﴿٤٢﴾

၄၂။ "အကယ်၍သာ ကျွန်ုပ်တို့သည် မိမိတို့၏ ကိုးကွယ်ရာဘုရားများ(အား ကြည်ညိုမြတ်နိုးရာ)၌ စွဲမြဲကြံ့ခိုင်စွာ မရှိခဲ့ကြပါလျှင် ဧကန်မလွဲ ၎င်းသည် ကျွန်ုပ်တို့အား ထိုကိုးကွယ်ရာဘုရားများမှ ဝေးအောင်ပြုခဲ့ပြီးသာ ဖြစ်ပေသည်"။ စင်စစ်သော်ကား ၎င်းတို့သည် မကြာမြင့်မီ ပြစ်ဒဏ်ကို တွေ့မြင်ကြသောအခါ မည်သူသည် လမ်းလွဲသူဖြစ်ကြောင်း သိရှိသွားကြပေမည်။

---

(၁) မက္ကာမြို့သား ကာဖိရ်များသည် ဆီရီယပြည်သို့ ခရီးသွားလာရာတွင် လမ်းခရီး၌ပြစ်ဒဏ်သင့်၍ မရှုမလှ ယိုယွင်းပျက်စီးနေသော တမန်တော် လူတ်၏ အမျိုးသားများ၏ မြို့ရွာများကို တွေ့မြင်နေကြရပေသည်။ သို့တစေလည်း ၎င်းတို့သည် သတိမမူ ဂူမမြင်ဆိုသကဲ့သို့ သတိသံဝေဂ မရကြပေ၊ သင်ခန်းစာမယူကြပေ။ အမှန်မှာ ၎င်းတို့သည် သေပြီးနောက် ရှင်ပြန်ထကာ အလ္လာဟ်အရှင်မြတ်၏ ရှေ့မှောက်တော်တွင် စစ်ဆေးမေးမြန်းခြင်းခံကြရပြီး ကျိုးပြစ်ခံစံကြရမည် ဟူ၍ပင် မမျှော်လင့်ကြပေ၊ မထင်ကြပေ။ နောင်တမလွန်ဘဝရှိသည်ကို မယုံကြည်ကြပေ။

أَرَءَيْتَ مَنِ ٱتَّخَذَ إِلَٰهَهُۥ هَوَىٰهُ أَفَأَنتَ تَكُونُ عَلَيْهِ وَكِيلًا ﴿٤٣﴾

၄၃။ (အို-နဗီတမန်တော်၊) မိမိ၏စိတ်အလိုဆန္ဒကို မိမိ၏ ကိုးကွယ်ရာ အဖြစ် ပြုလုပ်ခဲ့သောသူ၏ အကြောင်းကို အသင်သည် သိမြင်ခဲ့ပြီ မဟုတ်လော။ သို့ပါလျက် အသင်သည် ထိုသူ၏ အပေါ်၌ အုပ်ထိန်းသူအဖြစ် ရှိနေနိုင်ပါသလော။

أَمْ تَحْسَبُ أَنَّ أَكْثَرَهُمْ يَسْمَعُونَ أَوْ يَعْقِلُونَ إِنْ هُمْ إِلَّا كَٱلْأَنْعَٰمِ بَلْ هُمْ أَضَلُّ سَبِيلًا ﴿٤٤﴾

၄၄။ သို့တည်းမဟုတ် ထိုသူတို့အနက် များစွာသော သူတို့သည် ကြားကြသည်။ သို့မဟုတ် နားလည်ကြသည်ဟု အသင်ထင်မှတ်လေသလော။ ၎င်းတို့သည် ကုလားအုတ်၊ ကျွဲ၊ နွား၊ တိရစ္ဆာန် များကဲ့သို့သာလျှင် ဖြစ်ကြသည်။ ထို့မျှမက (ထိုတိရစ္ဆာန်များထက်ပင်)သာလွန်လမ်းလွဲသူများဖြစ်ကြကုန်သတည်း။[၁]

أَلَمْ تَرَ إِلَىٰ رَبِّكَ كَيْفَ مَدَّ ٱلظِّلَّ وَلَوْ شَآءَ لَجَعَلَهُۥ سَاكِنًا

၄၅။ အသင်သည် မိမိအား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်က (အရာဝတ္ထုခပ်သိမ်းတို့၏) အရိပ်ကို မည်သို့မည်ပုံ ပြန့်စေတော်မူခဲ့ကြောင်း လေ့လာဆင်ခြင် သုံးသပ်ခြင်း မပြုခဲ့လေသလော။

---

(၁) အချုပ်မှာ - ထိုသို့သော ကာဖိရ်များအား အဘယ်သို့လျှင် သွန်သင်ဆုံးမ ဩဝါဒပေးငြားသော်လည်း ကျွဲပါးစောင်းတီး ဆိုသကဲ့သို့ အချည်းနှီးသာဖြစ်ပေမည်။ အမှန်မှာ ထိုသို့သော ကာဖိရ်များသည် တိရစ္ဆာန်များထက်ပင်လျှင် ပိုမိုလွဲမှားလျက်ရှိကြပေသည်။တိရစ္ဆာန်များသည် ယုတ်စွအဆုံး မိမိတို့အား ထိန်းကျောင်းကျွေးမွေးထားကြသော သခင်များအား နည်းများမဆို သိကြသေးသည်။ အမိန့်နာခံ ကြသေးသည်။ ကျေးဇူးရှင်အား သိတတ်ကြသေးသည်။ မိမိတို့အား အကျိုးပြုသော အရာနှင့် နစ်နာပျက်စီးစေသောအရာကို နည်းများမဆိုသိကြသေးသည်။ဘေးမဲ့လွှတ်ထားလျှင် မိမိတို့၏ စားကျက်နှင့်ရေဆိပ်သို့ သွားတတ်ကြသေးသည်။ ဤကာဖိရ်များမှာမူကား မိမိတို့အား ဖန်ဆင်းမွေးမြူတော် မူသောအရှင် အားလည်းမသိကြပေ။ ထိုအရှင်မြတ်၏ ကျေးဇူးတော်များကိုလည်း မသိကြပေ။ အကောင်းနှင့်အဆိုး၊ မိတ်ဆွေနှင့်ရန်သူကိုလည်း ခွဲခြားမသိကြပေ။ တရားရေအေး အမြိုက်ဆေးကို သောက်သုံးရန်လည်း ဆန္ဒမရှိကြပေ။ တရားဓမ္မကို နာခံရန်ဝေးစွ၊ တရားပြသူကိုပင် ပြက်ရယ်သမှု ပြုကြသည်။ ရန်မူကြသည်။ မိမိတို့၌ အလ္လာဟ်အရှင်မြတ် အပ်နှင်းထားတော်မူသော စွမ်းရည်သတ္တိများကိုလည်း အချည်းနှီး ပြုလုပ်ထားကြသည်။ အလွဲသုံးစားပြုကြသည်။ အကယ်၍သာ ၎င်းတို့သည် မိမိတို့၏အသိဉာဏ်များကို အသုံးပြုကာ မိမိတို့၏ပတ်ဝန်းကျင်ရှိ အံ့မခန်းသည့် စကြာဝဠာကြီးနှင့် စကြာဝဠာအတွင်း ရှိသည်များကို အနည်းငယ်မျှပင် စဉ်းစားဆင်ခြင်ကြည့်ပါက အလ္လာဟ်အရှင်၏ ကြီးမားလှသော တန်ခိုးတော်များနှင့် သက်သေလက္ခဏာတော်များကို မျက်ဝါးထင်ထင် တွေ့မြင်ကြရပေမည်။ ရှေ့လာလတ္တံ့သော အာယတ်တော်များတွင် အလ္လာဟ်အရှင်မြတ်၏ အချို့တန်ခိုးတော်များကိုပင် မိန့်ဆိုထားတော်မူသည်။

စင်စစ်သော်ကား ထိုအရှင်မြတ်သည် အလိုရှိတော်မူခဲ့ပါလျှင် ထိုအရိပ်ကို (လှုပ်ရှားနိုင်ခြင်း မရှိစေဘဲ) တည်ငြိမ်အောင် ပြုလုပ်တော်မူခဲ့မည်သာတည်း။ ထို့နောက် ငါအရှင်မြတ်သည် နေကို ထိုအရိပ်နှင့် စပ်လျဉ်း၍ *သက်သေ လက္ခဏာတစ်ရပ် ပြုလုပ်တော်မူခဲ့၏။* [1]

ثُمَّ جَعَلْنَا الشَّمْسَ عَلَيْهِ دَلِيلًا ۝٤٥

၄၆။ ထို့နောက် ငါအရှင်မြတ်သည် ယင်းအရိပ်ကို မိမိအထံတော်သို့ တဖြည်းဖြည်း ဆွဲယူရုပ်သိမ်းတော်မူခဲ့၏။

ثُمَّ قَبَضْنَٰهُ إِلَيْنَا قَبْضًا يَسِيرًا ۝٤٦

၄၇။ ထိုမှတပါး ထိုအရှင်မြတ်သည်ပင်လျှင် ညဉ့်ကို အသင်တို့အဖို့ အကွယ်အကာ အဖုံးအအုပ်၊ အိပ်စက်ခြင်းကို *အပန်းဖြေရာ ပြုလုပ်တော်မူခဲ့သော အရှင်ဖြစ်တော်မူ၏။* [2] ၎င်းပြင် ထိုအရှင်မြတ်သည်ပင် နေ့ကို ရှင်ပြန်ရာကာလ ပြုလုပ်တော်မူခဲ့ပေသတည်း။

وَهُوَ الَّذِي جَعَلَ لَكُمُ الَّيْلَ لِبَاسًا وَالنَّوْمَ سُبَاتًا وَجَعَلَ النَّهَارَ نُشُورًا ۝٤٧

---

**(၁) အလ္လာဟ်အရှင်မြတ်၏ တန်ခိုးတော်များ (က)**

မိုးလင်းသည့်အချိန်မှ နေထွက်သည့်အချိန်အထိ ဆည်းဆာအချိန်မှာ သာယာကြည်နူးဖွယ် ကောင်းလှပေသည်။ ဤသည် အလ္လာဟ်အရှင်မြတ်၏ တန်ခိုးတော်နှင့် ကျေးဇူးတော်ပင်။ အကယ်၍သာ အလ္လာဟ်အရှင်မြတ်သည် နေကိုထွက်ပေါ်စေတော်မမူပါက၊ ဤသည့် အရိပ်အာဝါသ တည်ရှိနေမည်သာ ဖြစ်သည်။ ယခုမူ အလ္လာဟ်အရှင်မြတ်သည် နေကို ထွက်ပေါ်စေတော်မူသည်ဖြစ်ရာ၊ နေရောင်ခြည် ပြန့်လာသည်နှင့်အမျှ အရိပ်အာဝါသသည် တဖြည်းဖြည်း ကျုံ့၍ကျုံ့၍သွားပေသည်။ အကယ်၍သာ နေရောင်ခြည်မရှိပါက ကျွန်ုပ်တို့သည် အရိပ်အာဝါသကိုပင် သိရှိနားလည်နိုင်ကြမည် မဟုတ်ပေ။ အဘယ်ကြောင့်ဆိုသော် ဆန့်ကျင်ဘက်တစ်ခု ပေါ်လာခြင်းဖြင့်သာလျှင်၊ အခြားဆန့်ကျင်ဘက်တစ်ခုကို သိရှိရပေသည်။ နေ့မရှိ ညဉ့်ချည်းဖြစ်နေပါက၊ ညဉ့်မရှိ နေ့ချည်းဖြစ်နေပါက၊ ထို့အတူ အရိပ်မရှိ နေရောင်ချည်းရှိနေပါက သတ္တဝါအပေါင်းတို့သည် ဒုက္ခဖြစ်ကြရမည်သာ။ ယခုမူ နေ့လည်းရှိ၊ ညဉ့်လည်းရှိ၊ နေရောင်လည်းရှိ၊ အရိပ်အာဝါသလည်း ရှိနေပေသည်။ ဤသည် အလ္လာဟ်အရှင်မြတ်၏ တန်ခိုးတော်နှင့် အတိုင်းမသိ ကြီးမားလှသော ကျေးဇူးတော်ပင်။

ကြည့်-ကုရ်အာန် (၂၈း၇၁-၇၃)။

**(၂) အလ္လာဟ်အရှင်မြတ်၏ တန်ခိုးတော်များ (ခ)**

အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်ဖြင့် ညဉ့်၏အမှောင်တည်းဟူသော စောင်လွှာသည် အားလုံးကို လွှမ်းခြုံလိုက်သည့်အခါ၊ လူသားအားလုံးတို့သည် မိမိတို့၏ လုပ်ငန်းဆောင်တာများကို ရပ်နားလိုက်ကြပြီး ➢➢

وَهُوَ الَّذِيٓ أَرْسَلَ الرِّيٰحَ بُشْرًۢا بَيْنَ يَدَيْ رَحْمَتِهٖ ۚ وَأَنْزَلْنَا مِنَ السَّمَآءِ مَآءً طَهُورًا ﴿٤٨﴾

၄၈။ ၎င်းပြင် ထိုအရှင်မြတ်သည်ပင် လေများကို မိမိကရုဏာတော် (ဝါ) မိုးမရွာမီ ရှေ့ပြေးသတင်းကောင်းအဖြစ် စေလွှတ်တော်မူခဲ့၏။ ထိုမှတပါး ငါအရှင်မြတ်သည် မိုးကောင်းကင်မှ စင်ကြယ်သန့်ရှင်းအောင် ပြုလုပ်သော (မိုး)ရေကို ချပေးသနားတော်မူခဲ့၏။

لِّنُحْـِۧيَ بِهٖ بَلْدَةً مَّيْتًا وَّنُسْقِيَهٗ مِمَّا خَلَقْنَآ أَنْعَامًا وَّأَنَاسِيَّ كَثِيرًا ﴿٤٩﴾

၄၉။ (ယင်းကဲ့သို့ ချပေးသနားတော်မူခြင်းမှာ) ငါအရှင်မြတ်သည် အသက်မရှိသော (ဝါ) သွေ့ခြောက်လျက်ရှိသော မြို့ရွာကို ထိုရေဖြင့် ရှင်စေတော်မူအံ့သောငှာ (ဝါ) စိုပြည်စိမ်းလန်းစေတော်မူအံ့သောငှာလည်းကောင်း၊ ငါအရှင် ဖန်ဆင်းတော်မူခဲ့သော မြောက်မြားစွာသော ကုလားအုတ်၊ ကျွဲ၊ နွားတိရစ္ဆာန်များနှင့် လူတို့အား ထိုရေကို တိုက်ကျွေးတော်မူအံ့သောငှာလည်းကောင်း၊ ဖြစ်ပေ၏။

وَلَقَدْ صَرَّفْنٰهُ بَيْنَهُمْ لِيَذَّكَّرُوا ۖ فَأَبٰىٓ أَكْثَرُ النَّاسِ إِلَّا كُفُورًا ﴿٥٠﴾

၅၀။ ထိုမှတပါး ဧကန်မလွဲ ငါအရှင်မြတ်သည် ထိုရေကို ၎င်းတို့အကြားဝယ် ဝေငှ၍ ပေးကမ်းတော်မူခဲ့၏။ သို့မှသာလျှင် ၎င်းတို့သည် တရားရရှိကြပေမည်။ သို့ပါလျက်၎င်းတို့အနက် အများဆုံးသောသူတို့မှာမူကား ကျေးဇူးကန်းခဲ့ကြသည်သာတည်း။[၁]

---

➤➤ အပန်းဖြေကြပေသည်။ နောက်တစ်နေ့ နေ၏အလင်းရောင်ပေါ်ထွက်လာသောအခါ အားလုံးတို့သည် အိပ်ရာမှ နိုးထပြီးလျှင် မိမိတို့၏ လုပ်ငန်းဆောင်တာများအတွက် ဟိုဟိုသည်သည် ပျံ့နှံ့လှုပ်ရှား သွားလာကြပေသည်။ ထို့အတူ သေခြင်းတည်းဟူသော အိပ်စက်ခြင်း၏နောက်တွင် ကိယာမတ်၏ နံနက်ချိန်သည် ထွက်ပေါ်လာပေမည်။ ထိုအခါ တစ်ကမ္ဘာလုံး နိုးထကြပေမည်။

(၁) **အလ္လာဟ်အရှင်မြတ်၏ တန်ခိုးတော်များ (ဂ)**

အလ္လာဟ်အရှင်မြတ်သည် မိမိ၏ကရုဏာတော် မိုးကိုမရွာသွန်းစေမီ အလျင် မိုးသတင်းဆောင်လာသည့် လေပြည်လေညင်းများကို ရှေ့ပြေးအဖြစ် သာယာစွာ တိုက်ခတ်စေတော်မူသည်။ ထို့နောက် မိုးကောင်းကင်မှ မိုးရွာသွန်းစေတော်မူသည်။

မိုးရေသည် မိမိကိုယ်တိုင်လည်း သန့်ရှင်းစင်ကြယ်သည်။ အခြားအရာများကိုလည်း သန့်ရှင်း➤➤

وَلَوْ شِئْنَا لَبَعَثْنَا فِي كُلِّ قَرْيَةٍ نَّذِيرًا ﴿٥١﴾

၅၁။ စင်စစ်သော်ကားအကယ်၍သာ ငါအရှင်မြတ်သည် အလိုရှိတော်မူခဲ့ပါလျှင် ရွာတိုင်းရွာတိုင်းတွင် သတိပေးနှိုးဆော်သူတစ်ပါးစီကိုလွှတ်တော်မူခဲ့မည်သာ။

فَلَا تُطِعِ الْكَافِرِينَ وَجَاهِدْهُم بِهِ جِهَادًا كَبِيرًا ﴿٥٢﴾

၅၂။ သို့ဖြစ်ပေရာ (အို-နဗီတမန်တော်၊) အသင်သည် ကာဖိရ်သွေဖည်ငြင်းပယ်သောသူတို့၏စကားကို လိုက်နာခြင်းမပြုဘဲ၊ ဤကုရ်အာန်ကျမ်းတော်မြတ်ဖြင့် ၎င်းတို့အားကြီးကျယ်ပြင်းထန်စွာယှဉ်ပြိုင်ပါလေ။ ၁

---

>> စင်ကြယ်စေသည်။ မိုးရေနှင့်ထိတွေ့ လိုက်သည့်အခါ ခြောက်သွေ့နေသော မြေများသည် ရှင်လာပေသည်။ လယ်ယာများသည် စိမ်းစိုလာပေသည်။ များစွာသော တိရစ္ဆာန်များနှင့် လူသားတို့ သည်လည်း မိုးရေကိုပင် မှီဝဲသောက်သုံးကြရပေသည်။ထို့အတူ အမိုက်မှောင်များတွင် နစ်မွန်း၍သေနေသော စိတ်နှလုံးများသည်လည်း၊ အလ္လာဟ်အရှင်မြတ်၏ တရားရေအေး အမြိုက်ဆေးကို သောက်သုံးကြရသည့်အခါ၊ ရှင်လာကြပေသည်။ ဒုစရိုက်မှုများတွင် ညစ်ပေနေသော စိတ်နှလုံးများသည်လည်း ဓမ္မရေကြည်ဖြင့် ဖွပ်လျှော်လိုက်သည့်အခါ ဖြူစင်သွားကြပေသည်။ ထို့အတူ ကိယာမတ်နေ့တွင် အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်ဖြင့် မိုးတစ်မျိုး ရွာသွန်းပေမည်။ ထိုအခါ သေနေသော ကိုယ်ခန္ဓာများသည် အသက်ရှင်လာကြပေမည်။

အလ္လာဟ်အရှင်မြတ်သည် ထိုမျှ အကျိုးကျေးဇူး များပြားလှသော မိုးရေကိုလူသားတို့အား လိုအပ်သည်နှင့်အမျှ လိုလေသေးသည်မရှိ၊ ဥတုရာသီအလိုက်၊ ဒေသအလိုက်၊ မိုးပြင်း၊ မိုးညင်း၊ မိုးဖွဲ၊ မိုးသီး၊ မိုးငွေများကို စနစ်တကျအုံဖွယ်သရဲ ရွာသွန်းဝေငှပေးထားတော်မူသည်။ လူသားတို့သည် ဤသည့် ကျေးဇူးတော်များကို စဉ်းစားဆင်ခြင်၍ တရားမြင်ကြရာသည်။ ကျေးဇူးသိတတ်ကြရာသည်။ သို့တစေလည်း များစွာသော လူသားတို့သည် ကျေးဇူးမသိတတ် ကြသည်သာမက၊ ကျေးဇူးကန်းလျက်ပင် ရှိကြပေသည်။

(၁) **ကုရ်အာန်ဖြင့် ဂျိဟာဒ်ပြုနေရမည်သာ။**

အလ္လာဟ်အရှင်မြတ် အလိုတော်ရှိပါက တမန်တော်အမြောက်အမြား ပွင့်စေတော်မူနိုင်သည်။ မြို့ရွာတိုင်းတွင် သီးခြားတမန်တော်များ စေလွှတ်တော်မူနိုင်သည်။ သို့ရာတွင် ယခုနောက်ဆုံးတွင် အလ္လာဟ်အရှင်မြတ်သည် ကမ္ဘာသက်တမ်း တစ်လျှောက်လုံးအတွက် တမန်တော်မြတ် မုဟမ္မဒ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)အား နောက်ဆုံးတမန်တော်အဖြစ် တစ်ပါးတည်းကိုသာ စေလွှတ်တော်မူရန် လိုလားတော်မူသည်။

သို့ဖြစ်ရာ တမန်တော်မြတ်သည် ကာဖိရ်များ၏ ကျေးဇူးကန်းမှု၊ ကဲ့ရဲ့ပြစ်တင်ပြောဆိုမှု၊ သွေဖည်ဆန့်ကျင်မှု များကိုကြည့်ပြီး အားငယ်ရန်မလို။ ၎င်းတို့အား အနည်းငယ်စိုးစဉ်းမျှ လိုက်လျောရန်မလို။ မိမိ၏ တာဝန်ကိုသာ ကိုယ်စွမ်းရှိသမျှ ဉာဏ်စွမ်းရှိသမျှ ကျေပွန်အောင် ဆောင်ရွက်ရန်သာရှိသည်။

ကုရ်အာန်ကျမ်းမြတ်ကို လက်ကိုင်ထား၍ ယင်းကာဖိရ်များနှင့် ဂျိဟာဒ် ပြုလုပ်ရန်သာရှိသည်။ သက်စွန့်ကြိုးပမ်း ပြိုင်ဆိုင်တွန်းလှန်ရန်သာ ရှိသည်။ ဤသည် အကြီးဆုံး 'ဂျိဟာဒ်'ပင်။ အလ္လာဟ်အရှင်မြတ်သည် မိမိ၏ လမ်းတော်၌ ဂျိဟာဒ်ပြုလုပ်သူများအား အောင်မြင်မှုကို ချီးမြှင့်တော်မူသည်သာတည်း။

၅၃။ ထိုမှတပါး ထိုအရှင်မြတ်သည်ပင် ပင်လယ်နှစ်ခုကိုပေါင်းစပ်ပေးတော်မူသောအရှင် ဖြစ်တော်မူပေရာ၊(ထိုပင်လယ်နှစ်ခုအနက်)ဤတစ်ခုသော ပင်လယ်(ရေ)မှာ ရသာရှိ၍ ချိုမြိန်သော၊ ရေငတ်ပြေစေသော(ရေ)ဖြစ်၏။ သို့ရာတွင် ဤတစ်ခုသော ပင်လယ်(ရေ)မှာကား ငန်၍ ခါး(သော ရေပင်) ဖြစ်ပေသည်။ တစ်ဖန်ထိုအရှင်မြတ်သည် ထိုပင်လယ်နှစ်ခု၏အကြား ဝယ် သေးသွယ်သောအဆက်တစ်ခုကို ထားရှိတော်မူခဲ့သည့်ပြင် (တစ်ဘက်မှ ရေသည် နောက်တစ်ဘက်မှ ရေနှင့် ရောနှောခြင်းမရှိစေရန် ခိုင်လုံသော) *အတားအဆီးတစ်ခုဖြင့် ကာဆီး၍ ထားရှိတော်မူခဲ့၏။* ၁

وَهُوَ الَّذِي مَرَجَ الْبَحْرَيْنِ هَٰذَا عَذْبٌ فُرَاتٌ وَهَٰذَا مِلْحٌ أُجَاجٌ وَجَعَلَ بَيْنَهُمَا بَرْزَخًا وَحِجْرًا مَّحْجُورًا ﴿٥٣﴾

၅၄။ တစ်ဖန် ထိုအရှင်မြတ်သည်ပင် (ကလလ) ရေ(ကြည်)ဖြင့် လူကို ဖန်ဆင်းတော်မူသော အရှင် ဖြစ်တော်မူ၏။၂ ထို့နောက် ထိုအရှင်မြတ်သည် ထိုလူကို (သွေးရင်းသားရင်းဖြစ်သော) ဆွေးမျိုးသားချင်း တော်စပ်သူများနှင့်လည်းကောင်း၊ ထိမ်းမြားမှုဖြင့် ဆွေမျိုးတော်စပ်သူများကိုလည်းကောင်း၊ ဖြစ်စေတော်မူခဲ့၏။ စင်စစ်သော်ကား အသင့်အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်သည် တန်ခိုးတော်နှင့် ပြည့်စုံတော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

وَهُوَ الَّذِي خَلَقَ مِنَ الْمَاءِ بَشَرًا فَجَعَلَهُ نَسَبًا وَصِهْرًا ۗ وَكَانَ رَبُّكَ قَدِيرًا ﴿٥٤﴾

---

(၁) **အလ္လာဟ်အရှင်မြတ်၏ တန်ခိုးတော်များ (ဃ)**

အလ္လာဟ်အရှင်မြတ်သည် အရောင်၊ အရသာ မတူသော ပင်လယ်များ၊ မြစ်များကို အံ့ဖွယ်သရဲ ပေါင်းစပ်ထားတော်မူသည်။ ထိုအရသာချင်း၊ အရောင်ချင်းမတူသော ရေပြင်၂-ခုကို ပေါင်းစပ်ထားရာတွင်၊ ရေပြင်၂-ခု ထိတွေ့ပေါင်းစပ်ဆုံမိရာ၌ သေးသွယ်သော ပရ်ဒါတစ်ခု၊ ခိုင်လုံသော အတားအဆီးတစ်ခုကို အံ့ဖွယ်သရဲ ပြုလုပ်ထားတော်မူသည်။ အမြင်အားဖြင့် ရေပြင်ချင်း ပေါင်းစပ်နေသော်လည်း၊ ရေချင်း ရောနှောသွားသည်မဟုတ်ပေ။ ရေပြင်ချင်း ပေါင်းစပ်ရာနေရာမှာပင် ဤတစ်ဘက်မှရေသည် ရသာရှိသည်၊ ချိုသည်။ ထိုတစ်ဘက်မှရေသည် ခါးသည်၊ ငန်သည်။ ရေကြည်သည် ကြည်လျက်ပင်၊ ရေနောက်သည် နောက်လျက်ပင်။ ဤသည်ကား အလ္လာဟ်အရှင်မြတ်၏ တန်ခိုးတော် တစ်ပါးပင်။

ကြည့်-ကုရ်အာန် (၂၇း၆၁။ ၅၅း၁၉-၂၀)။

وَيَعْبُدُوْنَ مِنْ دُوْنِ اللّٰهِ مَا لَا يَنْفَعُهُمْ وَلَا يَضُرُّهُمْ ۗ وَكَانَ الْكَافِرُ عَلٰى رَبِّهٖ ظَهِيْرًا ﴿٥٥﴾

၅၅။ သို့ရာတွင် ထို(မုရှ်ရစ်က်)တို့မှာမူကား အကြင်အရာများကို အလ္လာဟ်အရှင်မြတ်နှင့်ယှဉ်ပြိုင်၍ ဆည်းကပ်ကိုးကွယ်ကြကုန်၏။ ထိုအရာများသည် ၎င်းတို့အား အကျိုးဖြစ်ထွန်းစေနိုင်ကြသည်လည်း မဟုတ်ပေ။ ထိုနည်းတူစွာ ၎င်းတို့အား အကျိုးယုတ်စေနိုင်ကြသည်လည်း မဟုတ်ပေ။ စင်စစ်သော်ကား 'ကာဖိရ်' သွေဖည်ငြင်းပယ်သောသူသည် မိမိအား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်ဘက်မှ ကျောခိုင်းသူပင် ဖြစ်ပေသည်။

وَمَآ اَرْسَلْنٰكَ اِلَّا مُبَشِّرًا وَّنَذِيْرًا ﴿٥٦﴾

၅၆။ စင်စစ်သော်ကား (အို-နဗီတမန်တော်၊) ငါအရှင်မြတ်သည် အသင့်အား သတင်းကောင်းပြောကြားသူနှင့် သတိပေးနှိုးဆော်သူ အဖြစ်သာ စေလွှတ်တော်မူခဲ့၏။

قُلْ مَآ اَسْـَٔلُكُمْ عَلَيْهِ مِنْ اَجْرٍ اِلَّا مَنْ شَآءَ اَنْ يَّتَّخِذَ اِلٰى رَبِّهٖ سَبِيْلًا ﴿٥٧﴾

၅၇။ (အို-နဗီတမန်တော်၊) အသင်သည် ပြောကြားပါလေ။ (အချင်းတို့၊) မည်သူမဆို အလိုရှိခဲ့လျှင် မိမိအား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်အထံတော်သို့ သွားရာလမ်းကို ရွေးချယ်ရန်မှတပါး ငါသည် ယင်း(အမိန့်တော်များကို ပို့ဆောင်ခြင်း)နှင့် စပ်လျဉ်း၍ အသင်တို့ထံ မည်သည့်အဖိုးအခကိုမျှ တောင်းဆိုသည် မဟုတ်ပေ။

---

(၂) **အလ္လာဟ်အရှင်မြတ်၏ တန်ခိုးတော်များ (င)**

အလ္လာဟ်အရှင်မြတ်သည် ရေတစ်စက်ဖြင့် လူသားအား ဖန်ဆင်းတော်မူသည်။ လှပသောရုပ်ဆင်းသဏ္ဌာန်နှင့် ပြည့်ဝစုံလင်သော အသိဉာဏ်ကိုလည်း ချီးမြှင့်ထားတော်မူသည်။ ထို့ပြင်တစ်ဝ လူသား၌ သားချင်းပေါက်ဖော်များ၊ (ဃရာဝါသ) အိမ်ထောင်ပြုခြင်းအားဖြင့် တော်စပ်သော ဆွေမျိုးများကိုလည်း တိုးပွားစေတော်မူသည်။ ဤသို့ဖြင့် လူသားသည် ကာယ၊ ဉာဏ၊ မိတ္တအားဖြင့် အဘက်ဘက်တွင်ပြည့်စုံကာ ကမ္ဘာ့အိမ်ထောင်စုတွင် အထွတ်အထိပ်သို့ ရောက်ရှိလျက်ရှိပေသည်။ ဤသည်လည်း အလ္လာဟ်အရှင်မြတ်၏ တန်ခိုးတော်ပင်။ ကျေးဇူးတော်ပင်။ အလ္လာဟ်အရှင်မြတ်၏ တန်ခိုးတော်နှင့် ကျေးဇူးတော်ကား အတိုင်းအဆမရှိပါဘိတကား။ ထိုသို့သော ကြီးမားသော ကျေးဇူးတော်ရှင်အားသာလျှင် ဆည်းကပ် ကိုးကွယ်ရာသတည်း။

وَتَوَكَّلْ عَلَى الْحَيِّ الَّذِي لَا يَمُوتُ وَسَبِّحْ بِحَمْدِهِ ۚ وَكَفَىٰ بِهِ بِذُنُوبِ عِبَادِهِ خَبِيرًا ﴿٥٨﴾

၅၈။ ၎င်းပြင် (အို-နဗီတမန်တော်၊) အသင်သည် မည်သည့်အခါ၌မျှ သေဆုံးတော်မူမည် မဟုတ်သော အမြဲထာဝရ ရှင်တော်မူသော အရှင်မြတ်အပေါ်၌ သာလျှင် ယုံပုံလွဲအပ်ပါလေ။ ထိုမှတပါး အသင်သည် ထိုအရှင်မြတ်အား ချီးမွမ်းထောမနာပြုခြင်းကို မြွက်ဆို ပါလေ။ စင်စစ်သော်ကား ထိုအရှင်မြတ်သည်ပင် မိမိ ကျွန်များ၏ ပြစ်မှုတို့ကို သိတော်မူသောအရှင်အဖြစ် လုံလောက်၏။

الَّذِي خَلَقَ السَّمَاوَاتِ وَالْأَرْضَ وَمَا بَيْنَهُمَا فِي سِتَّةِ أَيَّامٍ ثُمَّ اسْتَوَىٰ عَلَى الْعَرْشِ ۚ الرَّحْمَٰنُ فَاسْأَلْ بِهِ خَبِيرًا ﴿٥٩﴾

၅၉။ အကြင်အရှင်မြတ်သည် မိုးကောင်းကင်များ ကိုလည်းကောင်း၊ ပထဝီမြေကိုလည်းကောင်း၊ ယင်း မိုးကောင်းကင်များနှင့် ပထဝီမြေနှစ်ခုလုံး၏ အကြား၌ ရှိသည်တို့ကိုလည်းကောင်း၊ ခြောက်ရက်တွင် ဖန်ဆင်း တော်မူခဲ့ပြီးနောက် 'အရ်ရှ်'ပလ္လင်တော်ထက်ဝယ် စံမြန်း တော်မူခဲ့၏။ ထို(အရှင်မြတ်သည်ပင်) 'ရဟ်မာန်' ကြီးမားလှသော ကရုဏာတော်ရှင် ဖြစ်တော်မူပေရာ ထို 'ရဟ်မာန်' ကြီးမားလှသော ကရုဏာတော်ရှင်နှင့် ပတ်သက်၍ သိရှိသူတစ်ဦးတစ်ယောက်အား မေးမြန်း ရာ၏။

وَإِذَا قِيلَ لَهُمُ اسْجُدُوا لِلرَّحْمَٰنِ قَالُوا وَمَا الرَّحْمَٰنُ أَنَسْجُدُ لِمَا تَأْمُرُنَا وَزَادَهُمْ نُفُورًا ۩ ﴿٦٠﴾

၆၀။ စင်စစ်သော်ကား ၎င်းတို့အား အသင်တို့သည် 'ရဟ်မာန်' ကြီးမားလှသော ကရုဏာတော်ရှင်အား 'စဂျဒဟ်' ပျပ်ဝပ် ဦးချကြလေကုန်ဟု ပြောကြားခဲ့ပါ လျှင် ၎င်းတို့က 'ရဟ်မာန်' ဟူသည် အဘယ်နည်း၊ ကျွန်ုပ်တို့သည် အသင်အကျွန်ုပ်တို့အားအမိန့်ပေးသော အရာကို 'စဂျ်ဒဟ်' ပျပ်ဝပ်ဦးချကြရပါမည်လောဟု ဆိုကြကုန်၏။ စင်စစ် (ဤပြောဆို ညွှန်ကြားမှုသည်) ၎င်းတို့၌ စက်ဆုပ်မှုကို ပိုမိုတိုးတက်စေခဲ့ပေသတည်း။

تَبٰرَكَ الَّذِىْ جَعَلَ فِى السَّمَآءِ بُرُوْجًا وَّجَعَلَ فِيْهَا سِرٰجًا وَّقَمَرًا مُّنِيْرًا ﴿٦١﴾

**၆၁။** အကြင်အရှင်မြတ်သည် 'ဗရ်ကသ်' မင်္ဂလာနှင့်
အလွန်ပြည့်စုံတော်မူ၏။ ထိုအရှင်မြတ်သည် မိုး
ကောင်းကင်၌ *ဆယ့်နှစ်ရာသီအင်သာစက်များကို* [၁]
ဂြိုဟ်နက္ခတ်များကို ပြုလုပ်တော်မူခဲ့၏။ ထိုမှတပါး
ထိုအရှင်မြတ်သည် ယင်းမိုးကောင်းကင်၌ ဆီးမီး
တစ်ခုကိုလည်းကောင်း၊ လင်းဝင်းတောက်ပသော လ
စန္ဒာကိုလည်းကောင်း၊*ပြုလုပ်ဖန်ဆင်းတော်မူခဲ့၏။* [၂]

---

**① <u>အလ္လာဟ်အရှင်မြတ်၏ တန်ခိုးတော်များ (စ)</u>**

'ဗုရူဂျ်'သည် 'ဗုရ်ဂျ်'၏ ဗဟုဝုစ်ကိန်းဖြစ်သည်။ ဤပုဒ်ကို ကုရ်အာန်တွင် (၄)နေရာ၌ တွေ့ရှိရသည်။ ကြည့်-ကုရ်အာန် (၄း၇၈။ ၁၅း၁၆။ ၂၅း၆၁။ ၈၅း၁)။

'ဗုရူဂျ်' ဟူသည် မိုးကောင်းကင်ရှိ ကြီးမားသော ဂြိုလ်နက္ခတ်များကိုလည်း ဆိုနိုင်၏။ ကောင်းကင်တမန်များ စောင့်ရှောက်နေသော ကောင်းကင်ရှိရဲတိုက် ခံတပ်များကိုလည်း ဆိုနိုင်၏။ နေ သွားလာရာ ၁၂-ခုသော ရာသီအင်သာစက်စခန်း များကိုလည်းဆိုနိုင်၏။ ရှာဟ်ဆွဟိဗ်၏ ယူဆချက်အရ မိုးကောင်းကင်၏ အပိုင်းအစု(၁၂) ကိုလည်းဆိုနိုင်၏။

မည်သည့်အနက်၌ပင် ရှိသည်ဖြစ်စေ၊ အဆိုပါ 'ဗုရူဂျ်'များကို အလ္လာဟ်အရှင်မြတ်သည်ပင် အံ့ဖွယ်သရဲစီမံထားတော်မူသည်။ ဤအကြောင်းနှင့် စပ်လျဉ်း၍ ကုရ်အာန်(၁၅း၁၆-၁၇။ ၈၅း၁)၏ အဖွင့်တွင် အကျယ်ရေးသားခဲ့ပေပြီ။

**② <u>အလ္လာဟ်အရှင်မြတ်၏ တန်ခိုးတော်များ (ဆ)</u>**

ဤကမ္ဘာတွင် အထင်ရှားဆုံးဖြစ်သော နေနှင့်လကိုလည်း အလ္လာဟ်အရှင်မြတ်ပင် အံ့ဖွယ်သရဲပြုလုပ်ထားတော်မူသည်။ အချိန်မှန် ဝင်ထွက်သွားလာကာ ကမ္ဘာ့အိမ်ထောင်စုကြီး တစ်ခုလုံးကို အကျိုးပြုလျက်ရှိသည်။

နေနှင့်လ၏ အကျိုးကားမရေတွက်နိုင်ပေ၊ နေနှင့်လသာမရှိပါက ဤကမ္ဘာသည် စက္ကန့်ပိုင်းအတွင်း ဆိတ်သုဉ်း ပျက်စီးသွားပေမည်။ ဤသည်လည်း အလ္လာဟ်အရှင်မြတ်၏ အတိုင်းမသိ ကြီးမားသော တန်ခိုးတော်နှင့် ကျေးဇူးတော်ပင်။ နေ၊လနှင့်တကွ ဂြိုဟ်အားလုံးတို့သည် အလ္လာဟ်အရှင်မြတ် အမိန့်တော်အရသာ စံနစ်တကျ သွားလာလှုပ်ရှားနေခြင်း ဖြစ်သည်။ ကြည့်-ကုရ်အာန် (၇း၅၄)။

နေနှင့်လသည် ကိုးကွယ်ရာမဟုတ်။ ထိုနေနှင့်လကို ဖန်ဆင်းတော်မူသော အရှင်သခင်သာလျှင် ကိုးကွယ်ရာ ဖြစ်တော်မူပေသည်။ ကြည့်-ကုရ်အာန်(၄၁း၃၇)။

ဤအကြောင်းနှင့်စပ်လျဉ်း၍ ကုရ်အာန်(၁၀း၅)တွင် အကျယ်ရေးသားခဲ့ပေပြီ။

وَهُوَ الَّذِي جَعَلَ الَّيْلَ وَالنَّهَارَ خِلْفَةً لِّمَنْ أَرَادَ أَنْ يَذَّكَّرَ أَوْ أَرَادَ شُكُورًا ﴿٦٢﴾

၆၂။ ထိုမှတပါး ထိုအရှင်မြတ်သည်ပင်အကြင်သူ၏အဖို့ ညဥ့်ကိုလည်းကောင်း၊ နေ့ကိုလည်းကောင်း၊ တစ်ခု၏နောက်တစ်ခု အလှည့်ကျသွားလာသောအရာများပင် ပြုလုပ်တော်မူခဲ့၏။ [၁] ထိုသူသည် သိနားလည်ရန် အလိုရှိခဲ့၏။ သို့တည်းမဟုတ် ကျေးဇူးသိတတ်ရန် ရည်စူးခဲ့ပေသတည်း။

وَعِبَادُ الرَّحْمَٰنِ الَّذِينَ يَمْشُونَ عَلَى الْأَرْضِ هَوْنًا وَإِذَا خَاطَبَهُمُ الْجَاهِلُونَ قَالُوا سَلَامًا ﴿٦٣﴾

၆၃။ စင်စစ်သော်ကား 'ရဟ်မာန်' ကြီးမားလှသောကရုဏာတော်ရှင်၏ကျွန်များသည် အကြင်သူများပင်။ ထိုသူတို့သည်ပထဝီမြေပေါ်ဝယ် ကျိုးနွံစွာ၊ ဖြည်းညင်းစွာ၊ ဣန္ဒြေသိက္ခာရှိစွာ၊လမ်းလျှောက်ကြကုန်၏။ [၂] ထိုမှတပါး အသိအလိမ္မာ ကင်းမဲ့ကြသောသူများသည် ၎င်းတို့နှင့် စကားပြောဆိုကြသောအခါ ၎င်းတို့သည် ကောင်းမွန်စွာ ပဋိပက္ခ ကင်းငြိမ်းသော စကားကို *အပြစ်မဖြစ်စေသောစကားကို* ပြောဆိုကြကုန်၏။ [၃]

---

① **အလ္လာဟ်အရှင်မြတ်၏ တန်ခိုးတော်များ (၈)**

အလ္လာဟ်အရှင်မြတ်သည် နေ့နှင့်ညဥ့်ကို စနစ်တကျ အလှည့်ကျ ရှေ့နောက် ဖြစ်ပေါ်စေထားတော်မူသည်။ လူသားတို့၏ လုပ်ငန်းဆောင်တာများသည် နေ့တွင် ပြုလုပ်ရာသည်များလည်း ရှိသည်။ ညဥ့်တွင် ပြုလုပ်ရာများလည်း ရှိသည်။ လူသားတို့သည် နေ့တွင်သွားလာလုပ်ရှား၍ ညဥ့်တွင်အိပ်စက်ကြပေသည်။

အကယ်တန္တု နေ့မရှိ ညဥ့်ချည်းဖြစ်ရှိနေပါကလည်း ဒုက္ခဖြစ်မည်သာ၊ ညဥ့်မရှိ နေ့ချည်းဖြစ်ရှိနေပါကလည်း ဒုက္ခဖြစ်မည်သာ။

ယခုမူ အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်ဖြင့် နေ့လည်းရှိသည်။ ညဥ့်လည်းရှိသည်။ စနစ်တကျ အလှည့်ကျ ဖြစ်ပေါ်လျက်ရှိပေသည်။ ဤသည်တို့ကား သိနားလည်လိုသူများအဖို့ အလွန်ထင်ရှားသော သက်သေလက္ခဏာတော်များပင်။ ကျေးဇူးသိတတ်သူများအဖို့ ကြီးမားလှသော ကျေးဇူးတော်များပင်။

② **'အိဗာဒုရ် ရဟ်မာန်' ကြီးမားလှသော ကရုဏာရှင်၏ ကျွန်များ**

**(၁) သွားလာရာတွင် မမောက်**

ကြီးမားလှသာ ကရုဏာရှင်၏ ကျွန်များသည် အပြောအဆို၊အပြုအမူ၊ အနေအထိုင်၊အသွားအလာတွင် ကျိုးနွံကြသည်၊ သိမ်မွေ့ကြသည်၊ ဣန္ဒြေသိက္ခာ ရှိကြသည်၊ ရိုးသားကြသည်၊ မမောက်ကြပေ။ မပလွှားကြပေ။ ဟန်ဆောင်၍ လူမမာများကဲ့သို့ သွားလာခြင်းသည် ပြစ်မှုသာဖြစ်သည်။ တမန်တော်မြတ်၏ သွားလာပုံနှင့်လည်း လုံးဝဆန့်ကျင်သည်။

၆၄။ ၎င်းပြင် အကြင်သူများပင် ထိုသူတို့သည် မိမိတို့အားဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၏ ရှေ့တော်မှောက်ဝယ် 'စဂျ်ဒဟ်' ပျပ်ဝပ် ဦးချကြလျက် လည်းကောင်း၊ မတ်တတ်ရပ်ကြလျက်လည်းကောင်း၊ *ညဉ့်ကို ကုန်လွန်စေကြကုန်၏။* ၁

وَالَّذِينَ يَبِيتُونَ لِرَبِّهِمْ سُجَّدًا وَقِيَامًا ﴿٦٤﴾

၆၅။ ထို့ပြင် အကြင်သူများပင်။ ထိုသူတို့သည် (ဤသို့)လျှောက်ထားကြကုန်၏။ အို–ကျွန်တော်မျိုးတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၊ အရှင်မြတ်သည် ဂျဟန္နမ်ငရဲ၏ပြစ်ဒဏ်ကို ကျွန်တော်မျိုးတို့မှ ဖယ်ရှားပေးတော်မူပါ။ စကန်မလွဲ ယင်း ဂျဟန္နမ်ငရဲ၏ ပြစ်ဒဏ်သည်ကား ပျက်စီးမှုပင်၊ ပြင်းထန်လှသောဒုက္ခပင်၊ *အဆက်မပြတ်သက်ရောက်အံ့သော ပြစ်ဒဏ်ပင် ဖြစ်ပါသည်။* ၂

وَالَّذِينَ يَقُولُونَ رَبَّنَا اصْرِفْ عَنَّا عَذَابَ جَهَنَّمَ إِنَّ عَذَابَهَا كَانَ غَرَامًا ﴿٦٥﴾

၆၆။ စကန်စင်စစ် ယင်း ဂျဟန္နမ် ငရဲသည် စခန်းချရာ နေရာအဖြစ်လည်းကောင်း၊ နေထိုင်ရာ နေရာအဖြစ်လည်းကောင်း၊အလွန်ညံ့ဖျင်းလှပါသည်။

إِنَّهَا سَاءَتْ مُسْتَقَرًّا وَمُقَامًا ﴿٦٦﴾

---

③ (၂) **လူမိုက်ကို ဝေးစွာရှောင်**

ကြီးမားလှသော ကရုဏာရှင်၏ ကျွန်များသည် အသိအလိမ္မာ ဉာဏ်ပညာကင်းမဲ့သော လူမိုက်များနှင့် အကြောင်းအားလျော်စွာ ဆုံစည်းမိကြလျှင်၊ စကားနည်း ရန်စဲ စကားဖြတ်ကြပေသည်။ လျစ်လျူပြုကြပေသည်။ မဖက်ပြိုင်ကြပေ။ 'စလာမ်'ပေး၍ ဝေးစွာရှောင်ကြပေသည်။

① (၃) **ညဉ့်တွင်လည်း ဝတ်ပြု**

ညဉ့်သန်းခေါင်အခါ လူသားတို့ အိပ်မောကျနေကြသည့် အချိန်တွင်လည်း ကြီးမားလှသော ကရုဏာရှင်၏ကျွန်များသည် လုံ့လဝီရိယကြီးစွာဖြင့် အိပ်ရာမှ နိုးထကာ အလ္လာဟ်အရှင်မြတ်အား ဝတ်ပြုလျက်ရှိပေသည်။ 'အိဗာဒုရ် ရဟ်မာန်'ပီပီ အလ္လာဟ်အရှင်မြတ်၏ 'အိဗာဒတ်'ကို နေ့ညဉ့်မပြတ် အခါမလပ် ပြုကြပေသည်။

② (၄) **ငရဲဒဏ် ကင်းဝေးရန် ဆုပန်**

ကြီးမားလှသာ ကရုဏာရှင်၏ ကျွန်များသည် နေ့ညဉ့်မပြတ် အခါမလပ် အလ္လာဟ်အရှင်မြတ်အား ခဝပ်ကိုးကွယ်၍ နေကြသော်လည်း၊ မိမိတို့၏ အကျင့်သီလများကို အထင်မကြီးကြပေ။ ငရဲမီးဘေးအတွက် စိတ်မအေးနိုင်ကြရှာပေ။ ထိုအတွက် အလ္လာဟ်အရှင်မြတ် ထံတော်၌ 'အို–ကျွန်တော်မျိုးတို့၏ အရှင်၊ အရှင်သည် ကျွန်တော်မျိုးတို့အား ဂျဟန္နမ်၏ပြစ်ဒဏ်မှ ဖယ်ရှားတော်မူပါ'ဟု ဆုပန်ကြလေသည်။

وَالَّذِيْنَ إِذَآ أَنْفَقُوْا لَمْ يُسْرِفُوْا وَلَمْ يَقْتُرُوْا وَكَانَ بَيْنَ ذٰلِكَ قَوَامًا ﴿٦٧﴾

၆၇။ ထိုမှတပါး အကြင်သူများပင်။ ထိုသူတို့သည် သုံးစွဲကြသောအခါ အချည်းနှီး၊ ဖြုန်းတီးကြသည် လည်း မဟုတ်ပေ။ စစ်စီစေးနဲ့ကြသည်လည်း မဟုတ် ပေ။ စင်စစ်(၎င်းတို့၏သုံးစွဲမှုကား) ယင်း (အချည်းနှီး ဖြုန်းတီးမှုနှင့် စစ်စီစေးနှဲမှု)၏ အကြားတွင် မလွန် မယုတ် *အလယ်(အလတ် သုံးစွဲမှု)သာလျှင် ဖြစ်ပေ သတည်း။* [၁]

وَالَّذِيْنَ لَا يَدْعُوْنَ مَعَ اللّٰهِ إِلٰهًا اٰخَرَ وَلَا يَقْتُلُوْنَ النَّفْسَ الَّتِيْ حَرَّمَ اللّٰهُ إِلَّا بِالْحَقِّ وَلَا يَزْنُوْنَ ۚ وَمَنْ يَّفْعَلْ ذٰلِكَ يَلْقَ أَثَامًا ﴿٦٨﴾

၆၈။ ၎င်းပြင် အကြင်သူများပင်။ ထိုသူတို့သည် အလ္လာဟ်အရှင်မြတ်နှင့်(တွဲဖက်၍) *အခြားကိုးကွယ်ရာ တစ်စုံတစ်ရာကိုမျှဟစ်ခေါ်တသ (ကိုးကွယ်ဆည်းကပ်) ကြသည် မဟုတ်ပေ။* [၂] ၎င်းပြင် ထိုသူများသည် အလ္လာဟ်အရှင်မြတ်က 'ဟရာမ်' ဟူ၍ တားမြစ်ထား တော်မူသော အသက်ဇီဝိန်ကိုလည်း *တရားသဖြင့်မှ တပါး သတ်ဖြတ်ခြင်း မပြုကြပေ။* [၃] ထိုမှတပါး ၎င်းတို့သည် ကာမေသုမိစ္ဆာစာရကိုလည်း ကျူးလွန် ကြသည်မဟုတ်ပေ။ စင်စစ်သော်ကားမည်သူမဆို ထို သည့်ပြစ်မှုများကိုကျူးလွန်ပါမူ ထိုသူသည် (အလွန် ကြီးလေးသော) ပြစ်ဒဏ်နှင့်တွေ့ကြုံရမည်သာ။

---

(၁) (၅) **မတွန့်တို မဖြုန်းတီး**

ကြီးမားလှသော ကရုဏာရှင်၏ ကျွန်များသည် သုံးစွဲရာတွင်၊ စည်းမဲ့ကမ်းမဲ့ ဖြုန်းတီးကြသည်လည်းမရှိ၊ မစားရက်မသောက်ရက် စေးနဲ့တွန့်တိုကြသည်လည်း မရှိ၊ သုံးစွဲရာတွင် တဖက်စွန်းသို့ ရောက်ရှိမသွားကြပေ။ မျှတစွာ အလယ်အလတ်သာ သုံးစွဲကြပေသည်။ ကြည့်-ကုရ်အာန် (၁၇:၂၉)။

(၂) (၆) **ရှရစ်ကျ် အမှု အလျှင်းမပြု**

ကြီးမားလှသော ကရုဏာရှင်၏ ကျွန်များသည် အလ္လာဟ်အရှင်မြတ် တစ်ပါးတည်းအားသာလျှင် ဆည်းကပ်ကိုးကွယ်ကြပေသည်။ ထိုအရှင်မြတ်နှင့်တွဲဖက်၍ မည်သည့်ပတ်ဝန်းကျင်၊ မည်သည့်အခြေအနေတွင်၊ မည်သည့်အဆင့်အတန်း၌မျှ ယှဉ်တွဲကိုးကွယ်ခြင်း အလျှင်းမပြုကြပေ။ ရှရစ်က်အမှုကို မဆိုထားလင့်၊ ရှရစ်က်၏ အသွင်အပြင်၊ ရှရစ်က်နှင့် ဆင်တူယိုးမှားဖြစ်သော အပြုအမူများကိုပင် ကိုယ်၊နှုတ်၊နှလုံး သုံးပါးလုံးဖြင့် ဝေးစွာ ရှောင်ကြဉ်ကြပေသည်။ ကြည့်-ကုရ်အာန် (၄:၄၈။ ၄:၁၁၆)။

يُضٰعَفۡ لَهُ الۡعَذَابُ يَوۡمَ الۡقِيٰمَةِ وَيَخۡلُدۡ فِيۡهٖ مُهَانًا ﴿٦٩﴾

၆၉။ 'ကိယာမတ်' ရှင်ပြန်ထရမည့်နေ့တွင် ထိုသူ၏ ပြစ်ဒဏ်သည် တိုးတက်(သက်ရောက်)စေခြင်းကို ခံရမည့်ပြင် ထိုသူသည် အမြဲထာဝရ ယင်းပြစ်ဒဏ်၌ပင် ဂုဏ်သရေယုတ်ညံ့စွာ ခံစားနေရမည်သာ။

اِلَّا مَنۡ تَابَ وَاٰمَنَ وَعَمِلَ عَمَلًا صَالِحًا فَاُولٰٓئِكَ يُبَدِّلُ اللّٰهُ سَيِّاٰتِهِمۡ حَسَنٰتٍ ‌ؕ وَكَانَ اللّٰهُ غَفُوۡرًا رَّحِيۡمًا ﴿٧٠﴾

၇၀။ သို့ရာတွင်အကြင်သူသည် (ကာဖိရ်ရှုရစ်က်မှ) ဝန်ချတောင်းပန်ပြီးသက်ဝင်ယုံကြည်ခဲ့၍ကောင်းမြတ်သော အကျင့်သီလကို ကျင့်မှုဆောက်တည်ခဲ့လျှင်လည်းကောင်း၊ အလ္လာဟ်အရှင်မြတ်သည် ထိုသို့သော သူတို့အား ၎င်းတို့၏ မကောင်းမှုများကို *ကောင်းမှုများနှင့်လဲလှယ်၍ပေးသနားတော်မူပေမည်။* [၁] စင်စစ်သော်ကား အလ္လာဟ်အရှင်မြတ်သည် အလွန်တရာ လွတ်ငြိမ်းချမ်းသာခွင့် ပေးတော်မူသောအရှင်၊ အလွန်တရာ သနားကြင်နာ ညှာတာတော်မူသော အရှင်ဖြစ်တော်မူ၏။

---

(၃) (၇) မတရားအသက် မသက်

ကြီးမားလှသော ကရုဏာရှင်၏ ကျွန်များသည် အလ္လာဟ်အရှင်မြတ်က ဟာရာမ်ဟူ၍ ပိတ်ပင်တားမြစ်ထားတော်မူသော မည်သည့် အသက်ကိုမျှ မသတ်ဖြတ်ကြပေ။ ဝေးစွာ ရှောင်ကြဉ်ကြပေသည်။ သို့ရာတွင် အချို့ အလွန်ကြီးလေးသော ပြစ်မှု ကျူးလွန်သောသူများကိုမူ အစ္စလာမ်၏ ရှရီအတ်တရားဥပဒေအရ အလွဲမရှောင်သာသည့် အဆုံးတွင် ကွပ်မျက်ပိုင်ခွင့်ရှိသည်။ ဥပမာ-သူတစ်ပါးအား အပြစ်မဲ့၊ အကြောင်းမဲ့ သတ်ဖြတ်လိုသည့်စိတ်ဖြင့် သေစေနိုင်သည့် လက်နက်ဖြင့် သတ်ဖြတ်သူ၊ ကာမပိုင်မယား ရှိပါလျက် သူတစ်ပါးအိမ်ရာကိုပြစ်မှားသူအား ကွပ်မျက်ရမည့်အကြောင်း ဟိဒါယတ်ကျမ်း အစောင်-၂၊ စာမျက်နှာ(၄၈၆-၄၉၃)တွင် ရှုပါကုန်။

(၁) အဘယ်မျှကြီးလေးသော ပြစ်မှုကို ကျူးလွန်ခဲ့လင့်ကစား၊ အချိန်မီ ဝန်ချတောင်းပန်၍ 'အီမာန်' ယုံကြည်ကာ ကောင်းမြတ်သော အကျင့်သီလများကို ဆောက်တည်ပါက၊ အလ္လာဟ်အရှင်မြတ်သည် ထိုသို့သောသူများအား ပြစ်မှုများအစား ကောင်းမှုများကို ပြုလုပ်နိုင်စွမ်း ပေးသနားတော်မူမည်။ ကာဖိရ်အဖြစ်၌ ပြစ်မှားခဲ့သော အပြစ်များကိုလည်း ချမ်းသာခွင့်ပေးတော်မူမည်။ သို့တည်းမဟုတ် အလ္လာဟ်အရှင်မြတ်သည် ပြစ်မှုများကို ပလပ်တော်မူ၍ ဝန်ချတောင်းပန်မှုနှင့် ကောင်းမြတ်သော အကျင့်သီလများ၏ ကျေးဇူးတော်အဟုန်ကြောင့်၊ ယခင်ကျူးလွန်မိခဲ့သော အပြစ်များ၏ အရေအတွက်နှင့်အမျှ ကုသိုလ်အကျိုးများကို ရေးမှတ်တော်မူမည်တည်း။

وَمَنْ تَابَ وَعَمِلَ صَالِحًا فَإِنَّهُ يَتُوبُ إِلَى اللَّهِ مَتَابًا ﴿٧١﴾

၇၁။ အမှန်သော်ကား မည်သူမဆို (အပြစ်မှ)ဝန်ချတောင်းပန်၍ ကောင်းမြတ်သော အကျင့်သီလကို ကျင့်မူဆောက်တည်ခဲ့ပါမူ ဧကန်မလွဲ ထိုသူသည် အလ္လာဟ်အရှင်မြတ်ဘက်သို့ အထူးပြန်လှည့်သူပင် ဖြစ်ပေသတည်း။

وَالَّذِينَ لَا يَشْهَدُونَ الزُّورَ وَإِذَا مَرُّوا بِاللَّغْوِ مَرُّوا كِرَامًا ﴿٧٢﴾

၇၂။ ထို့ပြင် အကြင်သူများပင်။ ထိုသူတို့သည် မလျော်ကန်သောနေရာသို့လည်း သွားရောက်ပါဝင်ကြသည်မဟုတ်ပေ။ [၁] (တနည်း) မုသားသက်သေခံကြသည်လည်း မဟုတ်ပေ။ ထိုမှတပါး ၎င်းတို့သည် အချည်းနှီးသော အမှုကိစ္စ၏အပါးမှ ဖြတ်သန်း၍ သွားကြလေသောအခါ၊ (မျက်နှာအောက်စိုက်၍) ဣန္ဒြေရှိသူများပီပီ ဖြတ်သန်း၍သွားကြကုန်၏။ [၂]

وَالَّذِينَ إِذَا ذُكِّرُوا بِآيَاتِ رَبِّهِمْ لَمْ يَخِرُّوا عَلَيْهَا صُمًّا وَعُمْيَانًا ﴿٧٣﴾

၇၃။ ၎င်းပြင် အကြင်သူများပင်၊ ထိုသူတို့သည် မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်၏ အာယတ်တော်များဖြင့် ဆုံးမသြဝါဒပေးခြင်းကို ခံကြရသောအခါ ထိုသူတို့သည် ယင်းအာယတ်တော်များအပေါ်၌ နားပင်းသူများအဖြစ် လည်းကောင်း၊ မျက်စိကန်းသူများအဖြစ်လည်းကောင်း၊ ကျလာကြသည်မဟုတ်ပေ။ [၃]

---

① (က) **မုသားမပြော မုသားသက်သေမထွက်**

ကြီးမားလှသော ကရုဏာရှင်၏ ကျွန်များသည် မုသားမပြောကြ၊ မုသားသက်သေ မထွက်ကြ။ အချည်းနှီးသော၊ အဓိပ္ပာယ်ကင်းမဲ့သော၊ ကုဖ်ရ်၊ ရှိရ်က်ကိုအားပေးသော အခမ်းအနားများ၊ သေရည်သေရက် သောက်စားသောနေရာများ၊ တရားတော်နှင့် ဆန့်ကျင်သည့် နေရာများတွင် မပါဝင်ကြပေ။

② (ခ) **အချည်းနှီးသော ကိစ္စများအနီးမှ ဖြတ်သွားရပါကလည်း ဣန္ဒြေရှိစွာဖြင့် ရှောင်ကွင်းသွားကြပေသည်**

ကြီးမားလှသော ကရုဏာရှင်၏ ကျွန်များသည် အချည်းနှီးသော ကိစ္စများတွင် မပါဝင်ကြပေ။ ဝေးစွာ ရှောင်ကြဉ်ကြပေသည်။ အကြောင်းအားလျော်စွာ မလွှဲမရှောင်သာ အချည်းနှီးသောကိစ္စအနီးမှ ဖြတ်သွားကြရပါကလည်း ဣန္ဒြေရှိစွာဖြင့် ရှောင်ကွင်းသွားကြပေသည်။ မော်၍မျှ မကြည့်ကြပေ။ ➢➢

وَالَّذِينَ يَقُولُونَ رَبَّنَا هَبْ لَنَا مِنْ أَزْوَاجِنَا وَذُرِّيَّاتِنَا قُرَّةَ أَعْيُنٍ وَاجْعَلْنَا لِلْمُتَّقِينَ إِمَامًا ﴿٧٤﴾

၇၄။ ထိုမှတပါး အကြင်သူများပင်။ ထိုသူတို့သည် အို–ကျွန်တော်မျိုးတို့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်။အရှင်မြတ်သည် ကျွန်တော်မျိုးတို့အား ကျွန်တော်မျိုးတို့၏ ဇနီးကြင်ရာများထံမှလည်းကောင်း၊ *ကျွန်တော်မျိုးတို့၏ သားမြေးတို့ထံမှလည်းကောင်း၊ မျက်စိအေးမြကြည်လင်မှုကိုပေးသနားတော်မူပါ။* ၁ ထိုမှတပါး *အရှင်မြတ်သည် ကျွန်တော်မျိုးတို့အား 'မွတ္တကီ' သူတော်စင်များ၏ရှေ့ဆောင်ရှေ့ရပ် ပြုလုပ်တော်မူပါဟု* ၂ လျှောက်ထား အသနားခံကြကုန်သတည်း။

---

➢➢ ဤအကြောင်းနှင့်စပ်လျဉ်း၍ ကုရ်အာန်(၂၃း၃)၏ အဖွင့်တွင် အကျယ်ဖွင့်ဆို ရေးသားခဲ့ပေပြီ။

**⑨ (၁၀) တရားတော်များကို အာရုံစူးစိုက်ကာ နားသောတဆင်ကြသည်။**

ကြီးမားလှသော ကရုဏာရှင်၏ ကျွန်များသည် အလ္လာဟ်အရှင်မြတ်၏ တရားတော်များကို အာရုံစူးစိုက်ကာ ရိုသေလေးမြတ်စွာ နားသောတ ဆင်ကြပေသည်။ ဦးထိပ်ရွက် ပန်ဆင်ကြပေသည်။ ကာဖိရ်၊ မုရှ်ရစ်က်များကဲ့သို့ နားပင်းများ၊ မျက်စိကန်းများ ပြုလုပ်မနေကြပေ။

ဤအာယတ်တော်တွင် ပါရှိသည့် 'အာယာတ်'ဟူသောပုဒ်သည် 'တရားတော်များ'၏ အနက်၌လည်း ဖြစ်နိုင်ပေသည်။ 'သက်သေလက္ခဏာတော်များ'၏ အနက်၌လည်း ဖြစ်နိုင်ပေသည်။ ကြည့်–မာဂျိဒီ။

**① (၁၁) ဇနီးသားသမီးများအတွက် ဆုပန်ကြသည်။**

ကြီးမားလှသော ကရုဏာရှင်၏ ကျွန်များသည် အလ္လာဟ်အရှင်မြတ်ထံတော်၌ 'အို–ကျွန်တော်မျိုးတို့၏ အရှင်သခင်၊ ကျွန်တော်မျိုးတို့အား မျက်စိအေးမြစေမည့် ဟာဒယနှလုံးရွှင်ပြုံးစေမည့် ဇနီးကောင်း၊ သားကောင်း၊ သမီးကောင်းများကို ပေးသနားတော်မူပါ'ဟူ၍ ဆုပန်ကြကုန်သည်။

ဇနီး သားသမီးများသည် အလ္လာဟ်အရှင်မြတ်၏ တရားတော်များကို ဆည်းပူး၍ ယင်းတရားတော်များနှင့်အညီ သာသနာ့ကျင့်စဉ် ကျင့်ရပ်များကို လက်တွေ့လိုက်နာ ကျင့်မူနေကြသည့်အဖြစ်ကို တွေ့မြင်ရမှသာလျှင်၊ မုအ်မင်န်တစ်ဦး၏ စိတ်နှလုံးသည် ရွှင်ပြုံးနိုင်ပေမည်။ ဤသည့်အဖြစ်သည် အလွန်ကြီးမားသော ဆုလာဘ်ကြီးရှေ့မှောက်တွင် အခြားသော လောကီစည်းစိမ်များသည် အချည်းနှီးပင်၊ ဖွဲနှင့်သလဲပင်။

**② (၁၂) မိမိတို့ကိုယ်တိုင် တရားရလိုကြသည်သာမက သူတပါးတို့အားလည်း တရားပြုလိုကြသည်**

ထို့ပြင်မက ကြီးမားလှသော ကရုဏာရှင်၏ ကျွန်များသည် အလ္လာဟ်အရှင်မြတ်ထံတော်၌၊ 'အရှင်မြတ်သည် ကျွန်တော်မျိုးတို့အား သူတော်စင်များ၏ ရှေ့ဆောင်အဖြစ် ပြုလုပ်ပေးတော်မူပါ' ဟူ၍လည်း ဆုပန်ကြကုန်သည်။ ဆိုလိုသည်ကား– မိမိတို့ကိုယ်တိုင် တရားရကြသည်သာမက၊ သူတစ်ပါးတို့အားလည်း တရားပြနိုင်သူများ ဖြစ်ကြရပါစေသတည်းဟူလို။ ဤသည်တို့ကား ကြီးမားလှသောကရုဏာရှင်၏ မွန်မြတ်လှသော ကျွန်များ၏ ဂုဏ်ရည်များတည်း။ ရှေ့တွင် ၎င်းတို့စံစားကြရမည့် အကျိုးဆုလာဘ်များကို မိန့်ဆိုထားတော်မူသည်။

أُولَٰٓئِكَ يُجْزَوْنَ الْغُرْفَةَ بِمَا صَبَرُوا وَيُلَقَّوْنَ فِيهَا تَحِيَّةً وَسَلَٰمًا ٧٥

၇၅။ ထို(ဝိသေသဂုဏ်ထူးနှင့် ပြည့်စုံကြကုန်သော 'ရဟ်မာန်' ကြီးမားလှသော ကရုဏာတော်ရှင်၏ ကျွန်)တို့မှာကား မိမိတို့ တည်တံ့ကြံ့ခိုင်စွာ ရှိခဲ့ကြသည့်အတွက်ကြောင့် (ဂျန္နတ်သုခဘုံ၏) မြင့်မြတ်သော အဆောင်များကိုပင် အစားပေး ချီးမြှင့်ခြင်း ခံကြရပေမည်။ ထိုမှတပါး ထိုသူတို့သည် ယင်းအဆောင်များ၌ ('မလာအိကဟ်' ကောင်းကင်တမန်များ၏) နှစ်ထောင်းအားရကြောင်း ထုတ်ဖော်ပြောဆိုခြင်းကိုလည်းကောင်း၊ 'စလာမ်' မေတ္တာပို့နှုတ်ခွန်းဆက်သခြင်းကိုလည်းကောင်း၊ (တွေ့ကြုံစေခြင်း)ခံကြရပေမည်။

خَٰلِدِينَ فِيهَا حَسُنَتْ مُسْتَقَرًّا وَمُقَامًا ٧٦

၇၆။ (၎င်းတို့သည်) ယင်း('ဂျန္နတ်'သုခဘုံ၏) မြင့်မြတ်သောအဆောင်များ၌ပင် အမြဲထာဝစဉ်နေထိုင်ကြပေမည်။ ထို('ဂျန္နတ်' သုခဘုံ၏) မြင့်မြတ်သောအဆောင်များသည် အလွန်မွန်မြတ်လှစွာသော စခန်းချရာ နေရာသည် လည်းကောင်း၊ နေထိုင်ရာနေရာသည် လည်းကောင်း၊ ဖြစ်ပေသည်။ [၁]

---

(၁) **ကြီးမားလှသော ကရုဏာရှင်၏ကျွန်များ စံစားရာ မြဲသော သုခဗိမာန်။**

ကြီးမားလှသော ကရုဏာရှင်၏ကျွန်များသည် အလ္လာဟ်အရှင်မြတ်၏ တရားတော်များကို မဆုတ်မနစ်သော လုံ့လဥဿဟ ဇွဲသတ္တိဖြင့် မယိမ်းမယိုင် ကျောက်တိုင်ပမာ ကြံ့ခိုင်တည်ကြည်စွာ ဦးထိပ်ရွက်ပန်ဆင်နိုင်ခဲ့ကြသည့်အတွက် အလ္လာဟ်အရှင်မြတ်၏ ဂျန္နတ်ဥယျာဉ်တော်တွင် မြင့်စွင့်သော ဗိမာန်များ၌ စံစားကြရပေမည်။

ကောင်းကင်တမန်များသည် ၎င်းတို့အား မေတ္တာပို့သကာ ခရီးဦးကြို ပြုကြပေမည်။ ဂုဏ်ပြုကြပေမည်။ ဤသို့သော ဗိမာန်များတွင် ခေတ္တခဏမျှ ဝင်ရောက်ခိုလှုံရခြင်း သည်ပင် အတိုင်းမသိ အကျိုးများလှဘိ၏။ ယခုမူ ယင်းဗိမာန်များသည် ၎င်းတို့ ထာဝရစံစားရာ ထာဝရဗိမာန်များ ဖြစ်လျက်ရှိချေပြီ။ ဤကား မြဲသော သုခတည်း၊ ဤကား ကြီးမားလှသော ကရုဏာရှင်၏ ကျွန်ပီသမှု၏ အကျိုးတည်း။

قُلْ مَا يَعْبَؤُا بِكُمْ رَبِّي لَوْلَا دُعَآؤُكُمْ فَقَدْ كَذَّبْتُمْ فَسَوْفَ يَكُونُ لِزَامًا ۝٧٧

၇၇။ (အို-နဗီတမန်တော်) အသင်သည် ပြောကြားပါလေ။ (အို-အချင်းတို့၊) အကယ်၍ အသင်တို့သည် ဆုတောင်းပတ္ထနာမပြုကြလျှင် ငါ့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်သည် အသင်တို့အား လုံး၀ ဂရုစိုက်တော်မူမည် မဟုတ်ပေ။ ယခုသော်ကား ဧကန်မလွဲ အသင်တို့သည် (ရစူလ်တမန်တော်မြတ်အားလည်းကောင်း၊ ကုရ်အာန်ကျမ်းတော်မြတ်ကိုလည်းကောင်း၊) မဟုတ်မမှန်ဟူ၍ စွပ်စွဲပြောဆိုခဲ့ကြပြီးဖြစ်ရာ မကြာမြင့်မီ *ယင်းစွပ်စွဲပြောဆိုမှုသည် (အသင်တို့အပေါ်၌) အန္တရာယ်ပင် ဖြစ်ချေအံ့သတည်း။* [၁]

---

၁ **ကာဖစ်ရ်များအား သတိပေးတော်မူခြင်း။**

ဆိုလိုသည်ကား – အလ္လာဟ်အရှင်မြတ်က၊ တမန်တော်မြတ်အား လူသားတို့ကို ပြောကြားစေတော်မူသည်မှာ- ကျိုးပြစ် ဖြစ်စေမည့် စကားများကို အကုန်အစင် ပြောကြားပြီးဖြစ်သည်။

လူသားတို့သည် မဖောက်မာကြရာ၊ အထင်မကြီးကြရာ၊ အတင့်မရဲကြရာ။ အလ္လာဟ်အရှင်မြတ်သည် တောင့်တမှု၊ ကြောင့်ကြမှု ကင်းစင်တော်မူသောအရှင် ဖြစ်တော်မူသည်။

လူသားတို့သည် ထိုအရှင်မြတ်အား ၀တ်မပြုကြပါက ထိုအရှင်မြတ်ထံ ဆုပန်ကြားကြပါက ထိုအရှင်မြတ်သည် စိုးစဉ်မျှပင် ဂရုမစိုက်တော်မူမည် မဟုတ်ပေ။

သို့ ၀တ်မပြုကြသည့်အတွက်၊ ဆုမပန်ကြသည့်အတွက် ထိုအရှင်မြတ်၌ စိုးစဉ်မျှလည်း ဆုံးရှုံးနစ်နာမှု ရှိသည်မဟုတ်ပေ။ လူသားတို့၏ ၀တ်ပြုခြင်း၊ ဆုပန်ကြားခြင်းသည် ထိုအရှင်မြတ်၏ အကျိုးမဟုတ်၊ လူသားတို့၏အကျိုးသာ။ ဤသည်ကို လူသားတို့ ကောင်းစွာ သိထားကြရာသည်။

ယခုမူ ကာဖိရ်များသည် ထိုအရှင်မြတ်အားလည်းကောင်း၊ ထိုအရှင်မြတ်၏ တမန်တော်အားလည်းကောင်း မဟုတ်မမှန်ဟူ၍ပင် စွပ်စွဲပြောဆိုကြပြီးဖြစ်ရာ၊ ယင်းသို့ မဟုတ်မမှန် စွပ်စွဲပြောဆိုခြင်းသည်ပင်လျှင် မကြာမီအတွင်း ဤပစ္စက္ခတွင်လည်းကောင်း၊ နောင်တမလွန်ဘ၀တွင် လည်းကောင်း၊ ဓမ္မန္တရယ်ဖြစ်လျက်ရှိချေမည်။ မကြာမီ ရင်ဆိုင်ကြရတော့မည်သာတည်း။

# လင်္ကာဆရာများကဏ္ဍ

سُورَةُ الشُّعَرَاءِ

ဤကဏ္ဍသည် 'ရှုအရာ'လင်္ကာဆရာများအကြောင်း ပါဝင်သော ကဏ္ဍမည်၏။
မက္ကာမြို့တော်၌ ကျရောက်ခဲ့၏။
ဤကဏ္ဍတွင် (အာယတ်)တော် (၂၂၇)ပါး၊ ရကူအ်အပိုဒ် (၁၁)ပိုဒ် အသီးသီး ပါရှိ၏။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ ○

အလွန်တရာ သနားကြင်နာညှာတာတော်မူသော ကြီးမားလှသောကရုဏာတော်ရှင် ဖြစ်တော်မူသော အလ္လာဟ်အရှင်မြတ်၏နာမံတော်ဖြင့် အစပြုပါ၏။

طٰسٓمّٓ ①

၁။ ဿွာ၊ စီမ်၊ မီမ်။

تِلْكَ اٰيٰتُ الْكِتٰبِ الْمُبِيْنِ ②

၂။ ဤသည် ထင်ရှားလှစွာသော ကျမ်းဂန်၏ (အာယတ်)တော်များပင်။

لَعَلَّكَ بَاخِعٌ نَّفْسَكَ اَلَّا يَكُوْنُوْا مُؤْمِنِيْنَ ③

၃။ (အို–နဗီတမန်တော်၊) ၎င်း(မက္ကာမြို့သား)တို့သည် သက်ဝင်ယုံကြည်ခြင်းမရှိကြသောကြောင့် အသင်သည် မိမိကိုယ်ကို သတ်သေချင်လှမတတ် ဖြစ်နေဘိ၏။

اِنْ نَّشَاْ نُنَزِّلْ عَلَيْهِمْ مِّنَ السَّمَآءِ اٰيَةً فَظَلَّتْ اَعْنَاقُهُمْ لَهَا خٰضِعِيْنَ ④

၄။ အကယ်၍သာငါအရှင်မြတ်သည် အလိုရှိတော်မူပါလျှင် မိုးကောင်းကင်မှ သက်သေလက္ခဏာတော် တစ်ပါးကို ၎င်းတို့အပေါ်၌ချပေးတော်မူမည်။ ထိုအခါ ၎င်းတို့၏လည်တိုင်များသည် ယင်းသက်သေလက္ခဏာ၏ရှေ့မှောက်ဝယ် ကိုင်းညွှတ်ရိုကျိုးလာကြပေမည်။

وَمَا يَاْتِيْهِمْ مِّنْ ذِكْرٍ مِّنَ الرَّحْمٰنِ مُحْدَثٍ اِلَّا كَانُوْا عَنْهُ مُعْرِضِيْنَ ⑤

၅။ စင်စစ်သော်ကား 'ရဟ်မာန်' ကြီးမားလှသော ကရုဏာတော်ရှင်၏အထံတော်မှ မည်သည့် သစ်လွင်သောဆုံးမဩဝါဒမဆို ၎င်းတို့ထံ ရောက်ရှိလာပါလျှင် ၎င်းတို့သည် ယင်းဆုံးမဩဝါဒဘက်မှ မျက်နှာလွှဲ၍ နေခဲ့ကြသည်သာ။

فَقَدْ كَذَّبُوا فَسَيَأْتِيهِمْ أَنْبَٰٓؤُا مَا كَانُوا بِهِۦ يَسْتَهْزِءُونَ ⑥

၆။ ယခုသော်ငင်းတို့သည် (ယင်းဆုံးမသြဝါဒကို) မဟုတ်မမှန်ဟူ၍ပင် စွပ်စွဲ ငြင်းပယ်ခဲ့ကြပေရာ ၎င်းတို့ ပြက်ရယ်သမှုပြုလျက် ရှိခဲ့ကြသောအရာ၏ အဖြစ်မှန် သည် မကြာမြင့်မီပင်၎င်းတို့ထံရောက်ရှိလာပေမည်၊[၁]

أَوَلَمْ يَرَوْا إِلَى الْأَرْضِ كَمْ أَنْبَتْنَا فِيهَا مِنْ كُلِّ زَوْجٍ كَرِيمٍ ⑦

၇။ ၎င်းတို့သည် ပထဝီမြေကို မမြင်ခဲ့ကြလေ သလော။ ငါအရှင်မြတ်သည် ယင်းပထဝီမြေ၌ တင့်တယ် ကောင်းမြတ်လှစွာသော(သစ်ဥ၊ သစ်ပွင့်၊ သစ်သီးအစရှိသော) အမျိုးအစားတိုင်းမှ အဘယ်မျှ လောက် များပြားစွာ ပေါက်ရောက်စေတော်မူခဲ့ပါ သနည်း။

(၁) တမန်တော်မြတ်သည် ကာဖိရ်များ အစ္စလာမ်အတွင်းသို့ ရောက်ရှိလာရေးကို အလွန်တရာမျှ လိုလားတော်မူ၏။ ကာဖိရ်များ အစ္စလာမ်အတွင်းသို့ ရောက်ရှိမလာကြသည့်အတွက် တမန်တော်မြတ်သည် သေရမလောက်ပင် ပူပင်သောက ယူကျုံးမရ ဖြစ်တော်မူ၏။ ဤအာယတ်တော်တွင် တမန်တော်မြတ်အား သိကြားစေတော်မူသည်မှာ– တမန်တော်မြတ်၏ စေတနာ မေတ္တာကရုဏာမှန်၏။ ပူပန်သောက ယူကျုံးမရဖြစ်မှုကားမှန်၏ သို့ရာတွင် စေတနာမေတ္တာ ကရုဏာထားရာတွင်လည်း အကန့်အသတ်ကား ရှိပေသေးသည်။

အဘယ်ကြောင့်ဆိုသော် ဤပစ္စက္ခဘဝသည် စမ်းသပ်ရာဌာနဖြစ်သည်။ ဤတွင် လူသားတို့၏ နာခံမှု၊ မနာခံမှုကို စမ်းသပ်ရသည်။ ထို့အတွက်ကြောင့်ပင် အလ္လာဟ်အရှင်မြတ်သည် လူသားတို့အား မိမိတို့၏စေတနာအလျောက် လွတ်လပ်စွာ ယုံကြည်ကိုးကွယ်ခွင့် ပြုထားတော်မူသည်။ လူသားတို့သည် မိမိတို့၏ အာသာဆန္ဒအလျောက် ကြိုက်နှစ်သက်ရာလမ်းစဉ်ကို ရွေးချယ်ကျင့်သုံး နိုင်ကြပေသည်။ မကြိုက် မနှစ်သက်သော လမ်းစဉ်ကို ငြင်းပယ်နိုင်ကြပေသည်။ ယင်းသည့် လွတ်လပ်ခွင့်ကို အလ္လာဟ်အရှင်မြတ်သည် ရုပ်သိမ်းတော်မမူလိုပေ။

အလ္လာဟ်အရှင်မြတ်သည် အကယ်၍ လူသားအားလုံးတို့အား မွတ်စ်လင်မ်ဖြစ်စေရန် အလိုတော်ရှိတော် မူပါက၊ လူတိုင်းလူတိုင်းအား ကိုင်းညွတ် ရိုကျိုးစေမည့် သက်သေလက္ခဏာတော်ကြီး တစ်ပါးပါးကို ချပေးတော်မူနိုင် ပေသည်။ ထိုအခါ အလွန့်အလွန် မောက်မာပလွှား၍ သွေဖည်ငြင်းဆန် မနာခံသောသူများပင်လျှင် ဦးညွတ်လာကြ ရပေမည်။ အသို့မျှ သွေဖည်ငြင်းဆန်နိုင်ကြမည် မဟုတ်ပေ။ သို့ပြုလုပ်တော်မူနိုင်သော်လည်း အလ္လာဟ်အရှင်မြတ် သည် ထိုသို့ ပြုတော်မမူချေ။

အလ္လာဟ်အရှင်မြတ်သည် လူသားတို့ထံ အချို့သက်သေ လက္ခဏာတော်များကို ချပေးထားတော် မူသည်။ ထိုသည့် လက္ခဏာတော်များကို တွေးဆ ဆင်ခြင်မြော်မြင်ပါက လူသားတို့သည် အမှန်တရားကို ကောင်းစွာ ရရှိနိုင်ကြပေသည်။

တမန်တော်မြတ် ပူပန်သောက ဖြစ်နေတော်မူသော ကာဖိရ်များကား မဟာကရုဏာတော်ရှင်သည် မိမိ၏ကရုဏာတော်ဖြင့် ၎င်းတို့အကျိုးငှာ ၎င်းတို့ထံသို့ အဆုံးအမတစ်ပါးပါး ပို့ချပေးတော်မူသည့် အခါတိုင်း၌ ➤➤

إِنَّ فِي ذَٰلِكَ لَآيَةً ۖ وَمَا كَانَ أَكْثَرُهُم مُّؤْمِنِينَ ﴿٨﴾

၈။ ကေန်စင်စစ် ဤသည်၌ ကြီးကျယ်လှစွာသော သက်သေ လက္ခဏာတစ်ရပ်ရှိပေသည်။ သို့ရာတွင် ၎င်းတို့အနက်အများဆုံးသောသူတို့မှာမူကား သက်ဝင်ယုံကြည်ကြသည် မဟုတ်ပေ။ ၁

وَإِنَّ رَبَّكَ لَهُوَ الْعَزِيزُ الرَّحِيمُ ﴿٩﴾

၉။ စင်စစ်သော်ကား အသင့်အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်သည် ကေန်မလွဲ ထိုအရှင်မြတ်သည်ပင် အလွန်တရာ လွှမ်းမိုးတော်မူသော အရှင်၊ အလွန်တရာ သနားကြင်နာညှာတာတော်မူသောအရှင် ဖြစ်တော်မူပေသတည်း။

وَإِذْ نَادَىٰ رَبُّكَ مُوسَىٰ أَنِ ائْتِ الْقَوْمَ الظَّالِمِينَ ﴿١٠﴾

၁၀။ ထိုမှတပါး တစ်ရံရောအခါဝယ် အသင့်အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်သည် မူစာအား အသင်သည် (မိမိတို့ကိုယ်ကို မိမိတို့ပင်) နှိပ်စက်ညှဉ်းပန်းသူတို့ထံ သွားပါလေဟု (မိန့်ကြား)တော်မူခဲ့၏။

---

➤➤ ၎င်းတို့သည် ဂရုမမူကြပေ။ ကျောခိုင်းကြသည်သာမက အဆိုပါအဆုံးအမများကို အမှားဟူ၍ပင် ဆိုကြသည်၊ ပြက်ရယ်သမှုပင် ပြုကြပေသည်။

သို့ဖြစ်ပေရာ ၎င်းတို့သည် မကြာမီအတွင်း ဤပစ္စက္ခတွင်လည်းကောင်း၊ နောင်တမလွန်ဘဝတွင်လည်းကောင်း၊ မိမိတို့ မိုက်မှားခဲ့ကြသည့် ပြစ်ဒဏ်ကို ခံကြရပေမည်။ ထိုအခါ၎င်းတို့သည် မိမိတို့ပြက်ရယ်သမှုပြုခဲ့ကြသည့်အကျိုးကား အသို့ရှိသည်ကို ကောင်းစွာ သိရှိသွားကြပေမည်။

(၁) ကာဖိရ်များသည် မိမိတို့ပတ်ဝန်းကျင်ရှိ လယ်ယာဥယျာဉ်များကို လေ့လာစဉ်းစား ဆင်ခြင်၍ကြည့်ကြပါက မူလအခြေအနေနှင့် တစ်ဖန်ဖြစ်ပေါ်လာသည့် အခြေအနေများကို နားလည်သဘောပေါက်နိုင်ကြပေသည်။

စဉ်းစားဆင်ခြင်အပ်သည်မှာ ဤသည့်သေနေသော သာမန်မြေတစ်ဆုပ်မှ လှပတင့်တယ် ရှုချင်စဖွယ်ကောင်းသော ပန်းမန်အစုံစုံ၊ စားချင်စဖွယ်ကောင်းသော သစ်သီးဝလံ အမျိုးမျိုးတို့သည် စနစ်တကျ အံ့ဖွယ်သရဲ ပေါက်ရောက်လျက်ရှိသည်။

ဤသည်ကို စဉ်းစားဆင်ခြင်ပါက ကြီးမားလှသော တန်ခိုးတော်ရှင်၊ အတိုင်းအဆမရှိသော ဉာဏ်တော်ရှင်တစ်ပါးသည် ဤသည်တို့ကို နောက်ကွယ်ရာမှ ကြိုးကိုင်၍ စနစ်တကျ စီမံဖန်တီးတော်မူလျက် ရှိသည်ကို နားလည်သဘောပေါက် နိုင်ပေသည်။ ထိုအရှင်မြတ်သည် မြေသေမှ ကောက်ပဲသီးနှံများကို စတင်ပေါက်ပွားစေတော်မူနိုင်သကဲ့သို့ ပေါက်ပွားလျက်ရှိသော ကောက်ပဲသီးနှံများကိုလည်း ပြန်လည်ရုပ်သိမ်းတော် မူနိုင်သည်။ ရုပ်သိမ်းထားတော်မူသော ကောက်ပဲသီးနှံများကိုလည်း တစ်ဖန်ပြန်လည် ပေါက်ပွားစေတော်မူနိုင်သည်။➤➤

قَوْمَ فِرْعَوْنَ ۚ أَلَا يَتَّقُونَ ﴿١١﴾

၁၁။ (မိမိတို့ကိုယ်ကို မိမိတို့ နှိပ်စက်ညှဉ်းပန်းသူများကား) ဖစ်ရ်အောင်န်၏ အမျိုးသားပင်တည်း။ ၎င်းတို့သည် မကြောက်ရွံ့ကြလေသလော။

قَالَ رَبِّ إِنِّيٓ أَخَافُ أَن يُكَذِّبُونِ ﴿١٢﴾

၁၂။ (ထိုအခါ) ထိုမူစာသည် (ဤသို့)လျှောက်ထားခဲ့လေ၏။ အို-ကျွန်တော်မျိုးအား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်၊ ဧကန်စင်စစ် ကျွန်တော်မျိုးသည် ၎င်းတို့က ကျွန်တော်မျိုးအား မဟုတ်မမှန်ဟူ၍ စွပ်စွဲ ငြင်းပယ်ကြမည်ကို စိုးရိမ်မိပါသည်။

وَيَضِيقُ صَدْرِي وَلَا يَنطَلِقُ لِسَانِي فَأَرْسِلْ إِلَىٰ هَٰرُونَ ﴿١٣﴾

၁၃။ ၎င်းပြင် ကျွန်တော်မျိုးသည် စိတ်ကျဉ်းကျပ်သည့်ပြင် ကျွန်တော်မျိုး၏လျှာမှာလည်း သွက်လက်ခြင်းမရှိပါ။ သို့ဖြစ်ပါ၍အရှင်မြတ်သည် (ကျွန်တော်မျိုး၏ နောင်တော်)ဟာရူန်၏ ထံသို့လည်း (ဝဟ်ယ်) အမိန့်တော်ပို့သတော်မူပါ။

وَلَهُمْ عَلَيَّ ذَنۢبٌ فَأَخَافُ أَن يَقْتُلُونِ ﴿١٤﴾

၁၄။ ထိုမှတပါး ၎င်းတို့နှင့်ပက်သက်၍ ကျွန်တော်မျိုး၏အပေါ်၌အပြစ်တစ်ခုလည်းရှိနေပါသဖြင့် ၎င်းတို့သည် ကျွန်တော်မျိုးအား သတ်ဖြတ်ကြမည်ကိုလည်း ကျွန်တော်မျိုး စိုးရိမ်မိပါသည်။

قَالَ كَلَّا ۖ فَٱذْهَبَا بِـَٔايَٰتِنَآ ۖ إِنَّا مَعَكُم مُّسْتَمِعُونَ ﴿١٥﴾

၁၅။ ထိုအရှင်မြတ်သည် (ဤသို့)မိန့်ကြားတော်မူခဲ့၏။ (အို-မူစာ၊ ၎င်းတို့သည် အသင့်အား) အလျှင်း (သတ်ဖြတ်နိုင်ကြမည်) မဟုတ်ပေ။ သို့ဖြစ်ပေရာ အသင်တို့ (ညီနောင်)နှစ်ဦးသည် ငါအရှင်မြတ်၏ အမိန့်တော်များနှင့်တကွ သွားကြလေကုန်။

---

➤➤ ဤသည်ကို စဉ်းစားဆင်ခြင်ပါက လူသားတို့သည် သေဆုံးပြီးနောက် ပြန်လည်ရှင်ပြန်ထကြမည့်အရေးကို နားလည်သဘောပေါက် နိုင်ကြပေသည်။ ဤကား သဘာဝလက္ခဏာတည်း။ သဘာဝလက္ခဏာများကို နားလည်ပြီးနောက်တွင် ဓမ္မလက္ခဏာများကို လက်ခံနာယူကျင့်မူရာတွင် အခက်အခဲ မရှိရာချေ။ သို့တစေလည်း မူလအစကပင် နာခံရန်ဆန္ဒပင်မရှိသူများ အဖို့မှာကား ဆေးမရှိပြီ။

ကေန်မလွဲ ငါအရှင်မြတ်သည် အသင်တို့နှင့်
အတူ (အသင်တို့နှစ်ဦးနှစ်ဖက် ပြောဆိုကြသည်တို့ကို)
နားထောင်လျက်ပင် ရှိတော်မူပေမည်။

فَأْتِيَا فِرْعَوْنَ فَقُولَا إِنَّا رَسُولُ رَبِّ الْعَالَمِينَ ﴿١٦﴾

၁၆။ သို့ဖြစ်ပေရာ အသင်တို့နှစ်ဦးသည် ဖစ်ရ်
အောင်န်၏ထံသို့သွား၍ (ဤသို့)ပြောဆိုကြလေကုန်။
ကေန်စင်စစ် ငါတို့သည် စကြာဝဠာခပ်သိမ်းတို့ကို
ဖန်ဆင်း မွေးမြူတော်မူသောအရှင် စေလွှတ်တော်မူ
သည့် ရစူလ်တမန်တော်(များ)ပင် ဖြစ်ကြသည်။

أَنْ أَرْسِلْ مَعَنَا بَنِي إِسْرَائِيلَ ﴿١٧﴾

၁၇။ အသင်သည် အစ္စရာအီလီအမျိုးသားတို့အား
ငါတို့နှင့်အတူ သွားခွင့်ပြုပါလေ။ [၁]

قَالَ أَلَمْ نُرَبِّكَ فِينَا وَلِيدًا وَلَبِثْتَ فِينَا مِنْ عُمُرِكَ سِنِينَ ﴿١٨﴾

၁၈။ ထိုဖစ်ရ်အောင်န်က (ဤသို့)ပြောဆိုခဲ့လေ၏။
(အို-မူစာ၊) ကျွန်ုပ်တို့သည်အသင့်အား ကလေးဘဝ၌
မိမိတို့ထံ ကျွေးမွေးစောင့်ရှောက်ခဲ့သည်မဟုတ်လော။
၎င်းပြင် သင်သည် မိမိသက်တမ်းမှ နှစ်ပေါင်းများစွာ
ကျွန်ုပ်တို့ထံတွင် နေထိုင်ခဲ့သည် မဟုတ်လော။

وَفَعَلْتَ فَعْلَتَكَ الَّتِي فَعَلْتَ وَأَنْتَ مِنَ الْكَافِرِينَ ﴿١٩﴾

၁၉။ ထိုမှတပါး အသင်သည် မိမိပြုခဲ့သောပြစ်မှုကို
လည်း ကျူးလွန်ခဲ့သည်မဟုတ်လော။ စင်စစ် အသင်
သည် ကျေးဇူးမသိတတ်သူတစ်ဦးပင် ဖြစ်ပေသည်။

---

(၁) အစ္စရာအီလီ မျိုးနွယ်ဝင်များသည် တမန်တော် အီဗ်ရာဟီမ်သခင်၏ လက်ထက်မှစ၍ ဆီးရီးယားပြည်တွင် နေထိုင်ခဲ့ကြပေသည်။ ထို့နောက် အစ္စရာအီလီ မျိုးနွယ်ဝင်များသည် တမန်တော်ယူစုဖ်အား အကြောင်းပြုပြီး အီဂျစ်သို့ ရောက်ရှိလာခဲ့ကြပေသည်။ အီဂျစ်ပြည်တွင် နှစ်ပရိစ္ဆေဒ အတန်ကြာသည်အထိ နေထိုင်ခဲ့ကြပေသည်။ ထို့နောက် မိမိတို့၏ နေရင်းတိုင်းပြည်ဖြစ်သော ဆီးရီးယားသို့ပြန်လိုကြသည့်အခါ ဖစ်ရ်အောင်န်သည် ၎င်းတို့အား ပြန်ခွင့်မပြုခဲ့သည်သာမက၊ အမျိုးမျိုးချုပ်ချယ် ထားခဲ့ပေသည်။ ကျေးကျွန်များသဖွယ် စေခိုင်းထားခဲ့ပေသည်။
တမန်တော် မူစာသည် ဖစ်ရ်အောင်န်ထံ မိမိ၏ အမျိုးသားများ၏ လွတ်မြောက်ရေးကို အရေးဆိုခဲ့ပေသည်။

قَالَ فَعَلْتُهَآ إِذًا وَّأَنَا۠ مِنَ الضَّآلِّينَ ﴿٢٠﴾

၂၀။ ထို(မူစာ)က (ဤသို့)ပြောဆိုဖြေကြားခဲ့၏။ ငါသည် ယင်းအပြုအမူကို မဆင်ခြင် မသိတတ်သော အခါ၌ မေ့မှားပြုမိခဲ့ပေသည်။

فَفَرَرْتُ مِنكُمْ لَمَّا خِفْتُكُمْ فَوَهَبَ لِى رَبِّى حُكْمًا وَجَعَلَنِى مِنَ ٱلْمُرْسَلِينَ ﴿٢١﴾

၂၁။ ထို့နောက် ငါသည်အသင်တို့အား ကြောက်ရွံ့ခဲ့သောအခါ အသင်တို့ထံမှ ထွက်ပြေး၍ တိမ်းရှောင်နေခဲ့၏။ ထို့နောက် ငါ၏အရှင်မြတ်သည် ငါ့အား အထူးဉာဏ်ပညာကိုချီးမြှင့်ပေးသနားတော်မူ၍ ငါ့အား ရစူလ်တမန်တော်တို့တွင် အပါအဝင် ဖြစ်စေတော်မူခဲ့ပေသည်။

وَتِلْكَ نِعْمَةٌ تَمُنُّهَا عَلَىَّ أَنْ عَبَّدتَّ بَنِىٓ إِسْرَٰٓءِيلَ ﴿٢٢﴾

၂၂။ စင်စစ် ဤသည် အကြင်ကျေးဇူးပင်။ အသင်သည် ယင်းကျေးဇူးဖြင့် ငါ၏အပေါ်၌ ဂုဏ်ဖော်၍ အစ္စရာအီလီအမျိုးသားတို့အား ကျွန်ပြုလုပ်ထားခြင်းပင် ဖြစ်ပေသတည်း။

قَالَ فِرْعَوْنُ وَمَا رَبُّ ٱلْعَٰلَمِينَ ﴿٢٣﴾

၂၃။ ဖစ်ရ်အောင်န်က စင်စစ် စကြာဝဠာ ခပ်သိမ်းတို့ကို ဖန်ဆင်းမွေးမြူတော်မူသော အရှင်ဟူသည် အဘယ်နည်းဟု မေးမြန်းခဲ့လေ၏။ [၁]

قَالَ رَبُّ ٱلسَّمَٰوَٰتِ وَٱلْأَرْضِ وَمَا بَيْنَهُمَآ إِن كُنتُم مُّوقِنِينَ ﴿٢٤﴾

၂၄။ ထို(မူစာ)က အကယ်၍ အသင်တို့သည် ယုံကြည်သူများဖြစ်ကြလျှင် (ထိုအရှင်မြတ်)သည် မိုးကောင်းကင်များကို လည်းကောင်း၊ ပထဝီမြေကို လည်းကောင်း၊ ယင်းမိုးကောင်းကင်နှင့် ပထဝီမြေ၏ အကြား၌ ရှိရှိသမျှတို့ကိုလည်းကောင်း၊ ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်ပင် ဖြစ်တော်မူသည်ဟု ပြောဆိုဖြေကြားခဲ့၏။

---

(၁) တမန်တော်မူစာနှင့် ဖစ်ရ်အောင်န်၏အကြောင်း ကုရ်အာန်(၇း၁၀၃-၁၃၇။ ၂၀း၉-၁၀၄)တွင် အကျယ်တဝင့် ပါရှိခဲ့ပေပြီ၊

قَالَ لِمَنْ حَوْلَهُۥٓ أَلَا تَسْتَمِعُونَ ﴿٢٥﴾

၂၅။ ထို(ဖစ်ရ်အောင်န်)က မိမိအနီးအနား၌ ရှိကြသူတို့အား (မောင်မင်းတို့၊) ကြားကြပါ၏လောဟု ဆိုခဲ့လေ၏။

قَالَ رَبُّكُمْ وَرَبُّ ءَابَآئِكُمُ ٱلْأَوَّلِينَ ﴿٢٦﴾

၂၆။ ထို(မူစာ)က (ထိုအရှင်မြတ်သည်) အသင်တို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်သည်လည်းကောင်း၊ အသင်တို့၏ ရှေးဟောင်း အဘ၊ ဘိုးဘေးများအား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်သည်လည်းကောင်းဖြစ်တော်မူသည်ဟု ပြောကြားခဲ့ပြန်၏။

قَالَ إِنَّ رَسُولَكُمُ ٱلَّذِىٓ أُرْسِلَ إِلَيْكُمْ لَمَجْنُونٌ ﴿٢٧﴾

၂၇။ ထို(ဖစ်ရ်အောင်န်)က ကေန်စင်စစ် အသင်တို့ထံ စေလွှတ်ခြင်းခံခဲ့ရသော ရစူလ်တမန်တော်သည် အမှန်ပင် ရူးနှမ်းသူဖြစ်သည်ဟု ဆိုခဲ့ပြန်၏။

قَالَ رَبُّ ٱلْمَشْرِقِ وَٱلْمَغْرِبِ وَمَا بَيْنَهُمَآ ۖ إِن كُنتُمْ تَعْقِلُونَ ﴿٢٨﴾

၂၈။ ထို(မူစာ)က အကယ်၍ အသင်တို့သည် သိနားလည်ကြပါမူ (ထိုအရှင်မြတ်သည်) အရှေ့ဘက် နေထွက်ရာအရပ်ကိုလည်းကောင်း၊ အနောက်ဘက် နေဝင်ရာအရပ်ကိုလည်းကောင်း၊ယင်းအရပ်နှစ်မျက်နှာ၏ကြား၌ ရှိရှိသမျှကိုလည်းကောင်း၊ ဖန်ဆင်းတော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူသည်ဟု ပြောကြားခဲ့ပြန်လေသတည်း။

قَالَ لَئِنِ ٱتَّخَذْتَ إِلَـٰهًا غَيْرِى لَأَجْعَلَنَّكَ مِنَ ٱلْمَسْجُونِينَ ﴿٢٩﴾

၂၉။ ထိုဖစ်ရ်အောင်န်က (အို-မူစာ၊) အမှန်ပင် အကယ်၍ အသင်သည် ကျွန်ုပ်မှလွဲ၍ အခြားသော ကိုးကွယ်ရာ တစ်ပါးပါးကို ရွေးချယ်ခဲ့ပါလျှင် ကေန်မလွဲ ကျွန်ုပ်သည် အသင့်အား အကျဉ်းထောင် ချထားမည်ဟု ပြောဆို ကြုံးဝါးခဲ့လေ၏။

قَالَ أَوَلَوْ جِئْتُكَ بِشَيْءٍ مُّبِينٍ ﴿٣٠﴾

၃၀။ ထိုမူစာက (အို-ဖစ်ရ်အောင်န်၊) ငါသည် အသင့်ထံ ထင်ရှားစွာသော (မုအ်ဂျီဇဟ်)တန်ခိုးတော် တစ်ပါးပါး ဆောင်ကြဉ်းခဲ့သည်ရှိသော် ကျွန်ုပ်အား အကျဉ်းချဦးမည်လောဟု ပြောဆိုမေးမြန်းခဲ့လေ၏။

قَالَ فَأْتِ بِهِ إِن كُنتَ مِنَ الصَّادِقِينَ ﴿٣١﴾

၃၁။ ထိုဖစ်ရ်အောင်န်က (အို-မူစာ၊) သို့ဖြစ်လျှင် အကယ်၍ အသင်သည် အမှန်ဆိုသူတစ်ဦးဖြစ်ပါမူ ထိုအရာ(မုအ်ဂျီဇဟ်)ကို ယူခဲ့ပါဟု ပြောဆိုခဲ့လေ၏။

فَأَلْقَىٰ عَصَاهُ فَإِذَا هِيَ ثُعْبَانٌ مُّبِينٌ ﴿٣٢﴾

၃၂။ ထိုအခါ ထိုမူစာသည် မိမိတောင်ဝှေးကို (မြေကြီးပေါ်သို့) ပစ်ချခဲ့ရာ ထိုတောင်ဝှေးမှာ ရုတ်တရက် ထင်ရှားစွာမြွေ(နဂါးကြီး)တစ်ကောင် ဖြစ်သွားခဲ့လေ၏။

وَنَزَعَ يَدَهُ فَإِذَا هِيَ بَيْضَاءُ لِلنَّاظِرِينَ ﴿٣٣﴾

၃၃။ ထိုမှတပါး ထိုမူစာသည် မိမိလက်ကို (မိမိချိုင်းကြားမှ အပြင်သို့)ဆွဲ၍ ထုတ်လိုက်ရာ ထိုလက်မှာ ကြည့်ရှုသူတို့ရှေ့ဝယ် ထွန်းတောက်လျက်ရှိနေခဲ့၏။

قَالَ لِلْمَلَإِ حَوْلَهُ إِنَّ هَٰذَا لَسَاحِرٌ عَلِيمٌ ﴿٣٤﴾

၃၄။ (ထိုအခါ)ထိုဖစ်ရ်အောင်န်က မိမိအနီးအနား၌ ရှိကုန်သော အကြီးအမှူးတို့အား ပြောကြားခဲ့သည်မှာ (အချင်းတို့၊) ဧကန်မလွဲ ဤသူမှာ ကျွမ်းကျင်သော ပဉ္စလက်ဆရာတစ်ဦးပင် ဖြစ်ပေသည်။

يُرِيدُ أَن يُخْرِجَكُم مِّنْ أَرْضِكُم بِسِحْرِهِ فَمَاذَا تَأْمُرُونَ ﴿٣٥﴾

၃၅။ ၎င်းသည် မိမိပဉ္စလက်အတတ်ဖြင့် အသင်တို့အား အသင်တို့၏ တိုင်းပြည်မှ နှင်ထုတ်ရန် ကြံရွယ်လျက် ရှိပေသည်။ သို့ဖြစ်ပေရာ အသင်တို့သည် မည်သို့ (အကြံ)ပေးလိုကြသနည်း။

قَالُوا أَرْجِهْ وَأَخَاهُ وَابْعَثْ فِي الْمَدَائِنِ حَاشِرِينَ ﴿٣٦﴾

၃၆။ ထိုအကြီးအမှူးတို့က လျှောက်ထား(အကြံပေး)ခဲ့ကြကုန်၏။ ဘုရင်မင်းမြတ်သည်ထိုမူစာနှင့် ၎င်း၏နောင်တော်(ဟာရူန်)အားရွှေ့ဆိုင်းခွင့်ပေး၍ မင်းစေတို့အား အမြို့မြို့အရွာရွာသို့ စေလွှတ်တော်မူပါ။

يَأْتُوكَ بِكُلِّ سَحَّارٍ عَلِيمٍ ﴿٣٧﴾

၃၇။ ထိုမင်းစေတို့သည် (တစ်ဖက်ကမ်းခပ်) တတ်မြောက် ကျွမ်းကျင်ကြကုန်သော ပဥ္စလက်ဆရာတို့အား ဘုရင်မင်းမြတ်ထံသို့ ခေါ်ဆောင်၍ လာခဲ့ကြကုန်အံ့သတည်း။

فَجُمِعَ السَّحَرَةُ لِمِيقَاتِ يَوْمٍ مَّعْلُومٍ ﴿٣٨﴾

၃၈။ ထို့နောက် ပဥ္စလက်ဆရာတို့သည် သတ်မှတ်ထားသော နေ့တစ်နေ့၏ အထူးချိန်းချက်ထားသော အချိန်တွင် စုဝေးခဲ့ကြရလေသည်။

وَقِيلَ لِلنَّاسِ هَلْ أَنتُم مُّجْتَمِعُونَ ﴿٣٩﴾

၃၉။ ထိုမှတပါး လူတို့အား ဆင့်ဆိုထားသည်မှာ အသင်တို့သည်လည်း စုရုံးကြရပေမည်။

لَعَلَّنَا نَتَّبِعُ السَّحَرَةَ إِن كَانُوا هُمُ الْغَالِبِينَ ﴿٤٠﴾

၄၀။ သို့မှသာလျှင် ကျွန်ုပ်တို့သည် ပဥ္စလက်ဆရာတို့၏ လမ်းစဉ်ကိုပင် အကယ်၍ ၎င်းတို့သည် အောင်နိုင်ကြသည်ရှိသော် လိုက်နိုင်ကြပေမည်။

فَلَمَّا جَاءَ السَّحَرَةُ قَالُوا لِفِرْعَوْنَ أَئِنَّ لَنَا لَأَجْرًا إِن كُنَّا نَحْنُ الْغَالِبِينَ ﴿٤١﴾

၄၁။ ထို့နောက် ပဥ္စလက်ဆရာတို့ ရောက်ရှိလာကြသောအခါ ၎င်းတို့က ဖစ်ရ်အောင်န်အား အကယ်၍ ကျွန်ုပ်တို့သည်အောင်နိုင်သူများဖြစ်ခဲ့ကြပါလျှင် စင်စစ်အမှန် ကျွန်ုပ်တို့သည် (ကြီးကျယ်သော)ဆုလာဘ်ကို အမှန်ပင်ရရှိကြမည်မဟုတ်ပါလောဟု ဆိုခဲ့ကြကုန်၏။

قَالَ نَعَمْ وَإِنَّكُمْ إِذًا لَّمِنَ الْمُقَرَّبِينَ ﴿٤٢﴾

၄၂။ ထိုဖစ်ရ်အောင်န်က ဟုတ်ပေသည်။ ထို့ပြင်တစ်ဝ ထိုသို့ဖြစ်ခဲ့လျှင် အသင်တို့သည် (ငါနှင့်အတူ) လက်ပွန်းတတီး (ချစ်ကျွမ်း) နေထိုင်သူတို့တွင်လည်း အပါအဝင် ဖြစ်ကြပေမည်ဟု ဆိုခဲ့လေ၏။

قَالَ لَهُم مُّوسَىٰ أَلْقُوا مَا أَنتُم مُّلْقُونَ ﴿٤٣﴾

၄၃။ (တမန်တော်)မူစာသည် ထိုပဥ္စလက်ဆရာတို့အား အသင်တို့သည် မိမိတို့ ပစ်ချကြအံ့သော အရာများကို ပစ်ချကြလေကုန်ဟု ပြောကြားခဲ့၏။

فَأَلْقَوْا حِبَالَهُمْ وَعِصِيَّهُمْ وَقَالُوا بِعِزَّةِ فِرْعَوْنَ إِنَّا لَنَحْنُ الْغٰلِبُوْنَ ﴿٤٤﴾

၄၄။ သို့ဖြစ်ပေရာ ထိုပဉ္စလက်ဆရာတို့သည် မိမိတို့၏ကြိုးများကိုလည်းကောင်း၊ မိမိတို့၏တောင်ဝှေးများကိုလည်းကောင်း၊ ပစ်ချခဲ့ကြကုန်၏။ ထို့ပြင် ၎င်းတို့က ဖိရ်အောင်န် (ဘုရင်မင်းမြတ်)၏ ဘုန်းတန်ခိုးကို တိုင်တည်၍ မလွဲဧကန် ကျွန်ုပ်တို့သည် ပင်လျှင် အောင်နိုင်သူများ အမှန်ပင် ဖြစ်ကြပေမည်ဟု ပြောဆိုခဲ့ကြကုန်၏။

فَأَلْقٰى مُوْسٰى عَصَاهُ فَإِذَا هِيَ تَلْقَفُ مَا يَأْفِكُوْنَ ﴿٤٥﴾

၄၅။ ထို့နောက်မူစာသည် မိမိလှုင်ကန် တောင်ဝှေးကို ပစ်ချခဲ့ရာ ထိုလှုင်ကန်တောင်ဝှေးမှာ ရုတ်တရက် (မြွေနဂါးကြီးဖြစ်လာပြီး)ထိုပဉ္စလက်ဆရာတို့ လှည့်စားထားကြသောအရာများကို မျိုလေတော့၏။

فَأُلْقِيَ السَّحَرَةُ سٰجِدِيْنَ ﴿٤٦﴾

၄၆။ ထိုအခါ ပဉ္စလက်ဆရာတို့သည် မှောက်လဲ၍ ပျပ်ဝပ် ဦးချကြကုန်၏။

قَالُوْا آمَنَّا بِرَبِّ الْعٰلَمِيْنَ ﴿٤٧﴾

၄၇။ ၎င်းတို့ကပြောဆိုခဲ့ကြသည်မှာ ကျွန်ုပ်တို့သည် စကြာဝဠာခပ်သိမ်းတို့ကို ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်အား သက်ဝင်ယုံကြည်ကြပါပြီ။

رَبِّ مُوْسٰى وَهٰرُوْنَ ﴿٤٨﴾

၄၈။ (ထိုအရှင်မြတ်သည်) မူစာ၏အရှင်မြတ်သည် လည်းကောင်း၊ ဟာရူန်၏အရှင်မြတ်သည် လည်းကောင်း၊ ဖြစ်တော်မူပါ၏။

قَالَ آمَنْتُمْ لَهُ قَبْلَ أَنْ آذَنَ لَكُمْ إِنَّهُ لَكَبِيْرُكُمُ الَّذِيْ عَلَّمَكُمُ السِّحْرَ فَلَسَوْفَ تَعْلَمُوْنَ لَأُقَطِّعَنَّ أَيْدِيَكُمْ وَأَرْجُلَكُمْ

၄၉။ ထို(ဖိရ်အောင်န်)က အသင်တို့အား ကျွန်ုပ်ခွင့်မပြုမီ အသင်တို့သည် ထိုမူစာအား ယုံကြည်ခဲ့ကြလေပြီ။ ဧကန်မလွဲ၎င်းသည် အသင်တို့အား ပဉ္စလက်အတတ်ပညာကို သင်ကြား၍ပေးခဲ့သော (အာစရိယ) အကြီးအကဲပင်ဖြစ်၏။ သို့ဖြစ်ပေရာ ယခုပင် အသင်တို့သည် (အကြောင်း) သိရှိကြပေမည်။

مِّنْ خِلَافٍ وَّلَاُوصَلِّبَنَّكُمْ اَجْمَعِيْنَ ۝٤٩

မလွဲဧကန် ကျွန်ုပ်သည် အသင်တို့၏ လက်များကိုလည်းကောင်း၊ အသင်တို့၏ခြေများကို လည်းကောင်း၊ (ဝဲယာ) လွှဲ၍ဖြတ်တောက်ပစ်မည်။ ထိုမှတပါး မချွတ်ဧကန် ကျွန်ုပ်သည် အသင်တို့ အားလုံးကိုပင် လက်ဝါးကပ်တိုင်တင်မည်ဟု ပြောဆို ကြုံးဝါးခဲ့၏။

قَالُوْا لَا ضَيْرَ ۡ اِنَّآ اِلٰى رَبِّنَا مُنْقَلِبُوْنَ ۝٥٠

၅၀။ ထိုပဉ္စလက်ဆရာတို့က ပြောကြားခဲ့ကြကုန်၏။ (ကျွန်ုပ်တို့၌) လုံးဝ အကျိုးယုတ်မှုရှိလိမ့်မည် မဟုတ်။ ဧကန်စင်စစ် ကျွန်ုပ်တို့သည် မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်အထံတော်သို့ ပြန်သွားကြမည့်သူများပင် ဖြစ်ကြကုန်၏။

اِنَّا نَطْمَعُ اَنْ يَّغْفِرَ لَنَا رَبُّنَا خَطٰيٰنَآ اَنْ كُنَّآ اَوَّلَ الْمُؤْمِنِيْنَ ۝٥١

၅၁။ စင်စစ်ဧကန် ကျွန်ုပ်တို့သည် ရှေးဦးမဆွ မှအိမင်န် သက်ဝင်ယုံကြည်သူများဖြစ်ကြပေရာ ကျွန်ုပ်တို့၏အရှင်မြတ်သည် ကျွန်ုပ်တို့၏ ပြစ်မှုများကို ခွင့်လွှတ် ချမ်းသာပေးတော်မူမည်ဟု ကျွန်ုပ်တို့ မျှော်လင့်ကြပေသတည်း။

وَاَوْحَيْنَآ اِلٰى مُوْسٰٓى اَنْ اَسْرِ بِعِبَادِيْٓ اِنَّكُمْ مُّتَّبَعُوْنَ ۝٥٢

၅၂။ ၎င်းပြင် ငါအရှင်မြတ်သည် မူစာ၏ထံသို့ အသင်သည် ငါအရှင်မြတ်၏ (ဤ)ကျွန်တို့အား ညဥ့်အချိန်၌ ခေါ်ဆောင်၍သွားပါလေ။ ဧကန်အမှန် အသင်တို့သည် (မိမိတို့အား) နောက်မှလိုက်လံခြင်းကို ခံကြရမည့်သူများပင် ဖြစ်ကြပေသည်ဟု 'ဝဟ်လ်' အမိန့်တော်ကို ထုတ်ပြန်တော်မူခဲ့၏။

فَاَرْسَلَ فِرْعَوْنُ فِى الْمَدَآئِنِ حٰشِرِيْنَ ۝٥٣

၅၃။ ထို့နောက် ဖစ်ရ်အောင်န်သည် မင်းစေတို့အား အမြို့မြို့ အရွာရွာသို့ စေလွှတ်ခဲ့လေသည်။

اِنَّ هٰٓؤُلَآءِ لَشِرْذِمَةٌ قَلِيْلُوْنَ ۝٥٤

၅၄။ ဧကန်စင်စစ် ဤသူတို့ကား အနည်းငယ် မျှသော အုပ်စုကလေးပင် ဖြစ်ပေသည်။

وَإِنَّهُمْ لَنَا لَغَآئِظُونَ ﴿٥٥﴾

၅၅။ ထို့ပြင်ကောန်အမှန်ၡင်းတို့သည် ကျွန်ုပ်တို့အား အလွန် အမျက်ပွားစေသူများပင် ဖြစ်ကြကုန်၏။

وَإِنَّا لَجَمِيعٌ حَٰذِرُونَ ﴿٥٦﴾

၅၆။ ထိုမှတပါး ဧကန်စင်စစ် ကျွန်ုပ်တို့သည် အမှန်ပင် စိုးရိမ်လျက် ရှိကြကုန်၏။

فَأَخْرَجْنَٰهُم مِّن جَنَّٰتٍ وَعُيُونٍ ﴿٥٧﴾

၅၇။ ထို့နောက် ငါအရှင်မြတ်သည် ထိုသူတို့အား ဥယျာဉ်များမှလည်းကောင်း၊ စမ်းချောင်းများမှ လည်းကောင်း၊ ထုတ်ပစ်တော်မူခဲ့၏။

وَكُنُوزٍ وَمَقَامٍ كَرِيمٍ ﴿٥٨﴾

၅၈။ ထိုနည်းတူစွာဘဏ္ဍာများမှလည်းကောင်း၊ ခမ်းနားသိုက်မြိုက်လှစွာသောနေအိမ်များမှလည်းကောင်း၊

كَذَٰلِكَ وَأَوْرَثْنَٰهَا بَنِىٓ إِسْرَٰٓءِيلَ ﴿٥٩﴾

၅၉။ စင်စစ်ဤနည်းအတိုင်းပင် ငါအရှင်မြတ်သည် ယင်းပစ္စည်းများကို အစ္စရာအီလီ မျိုးနွယ်တို့အား ပိုင်ဆိုင်စေတော်မူခဲ့ပေသတည်း။[၁]

فَأَتْبَعُوهُم مُّشْرِقِينَ ﴿٦٠﴾

၆၀။ ထို့နောက် ၎င်း(ဖစ်ရ်အောင်န်နှင့်တကွ အခြွေအရံ)တို့သည် ထိုအစ္စရာအီလီ မျိုးနွယ်တို့အား နေထွက်ချိန်၌ နောက်မှလိုက်၍ မီခဲ့ကြကုန်၏။

فَلَمَّا تَرَٰٓءَا ٱلْجَمْعَانِ قَالَ أَصْحَٰبُ مُوسَىٰٓ إِنَّا لَمُدْرَكُونَ ﴿٦١﴾

၆၁။ တစ်ဖန် အုပ်စုနှစ်ခုလုံးသည် တစ်ဖက်ကို တစ်ဖက် တွေ့မြင်ကြလေသောအခါ မူစာ၏ အပေါင်းပါတို့က ဧကန်မလွဲ ကျွန်ုပ်တို့သည် အမှန်ပင် အဖမ်းခံကြရပြီဟု (ထိတ်လန့်) ပြောဆိုခဲ့ကြကုန်၏။

---

(၁) ဖစ်ရ်အောင်န်နှင့် ၎င်း၏အခြွေအရံများ ကွပ်မျက်ခြင်း ခံကြရပြီးနောက် အစ္စရာအီလီ မျိုးနွယ်ဝင်များသည် အီဂျစ်ပြည်ကို စိုးမိုးခွင့်ရရှိခဲ့ကြသည်၊ မရရှိခဲ့ကြသည်ဟူသော ပြဿနာတွင် အဆိုပြားလျက် ရှိပေသည်။ ဤအကြောင်းနှင့် စပ်လျဉ်း၍ ကုရ်အာန်- (၇:၁၃၇)၏ အဖွင့်တွင် အကျယ်ရေးသားခဲ့ပေပြီ။

ဤတွင် အဆိုသစ်တစ်ရပ် ထပ်မံတွေ့ရှိရပြန်သည်။ ထိုအဆိုကား အခြားမဟုတ်။ အစ္စရာအီလီ မျိုးနွယ်ဝင်များသည် ဖစ်ရ်အောင်န်နှင့် ၎င်း၏အခြွေအရံများ ကွပ်မျက်ခြင်းခံကြရပြီးနောက် ချက်ချင်း အီဂျစ်နိုင်ငံကို မစိုးမိုးခဲ့ကြရသော်လည်း၊ တမန်တော်စုလိုင်မာန်သခင်၏ လက်ထက်တွင် အီဂျစ်ပြည်သည်လည်း အစ္စရာအီလီ မျိုးနွယ်ဝင်တို့၏ လက်အောက်သို့ ရောက်ရှိသွားခဲ့ပေသည်။ ကြည့်- ထာနဝီ၊ မာဂျိဒီ။

قَالَ كَلَّا ۖ إِنَّ مَعِيَ رَبِّي سَيَهْدِينِ ﴿٦٢﴾

၆၂။ (ထိုအခါ) မူစာက အလျှင်း (အဖမ်းခံကြရမည်)မဟုတ်။ မလွဲဧကန် ငါ့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်သည် ငါနှင့်အတူ ရှိတော်မူပေရာ၊ ယခုပင် ထိုအရှင်မြတ်သည် ငါ့အား (ပင်လယ်မှ ထွက်နိုင်ရန်) လမ်းညွှန်တော်မူမည်ဟု ပြန်ကြားခဲ့လေ၏။

فَأَوْحَيْنَا إِلَىٰ مُوسَىٰ أَنِ اضْرِب بِّعَصَاكَ الْبَحْرَ ۖ فَانفَلَقَ فَكَانَ كُلُّ فِرْقٍ كَالطَّوْدِ الْعَظِيمِ ﴿٦٣﴾

၆၃။ ထိုအခါ ငါအရှင်မြတ်သည် မူစာ၏ထံသို့ 'အသင်သည် မိမိတောင်ဝှေးဖြင့် ပင်လယ်ကို ရိုက်ခတ်ပါလေ'ဟု အမိန့်တော် ထုတ်ပြန်တော်မူခဲ့၏။ သို့ဖြစ်ပေရာ (မူစာသည် အမိန့်တော်အတိုင်း ရိုက်ခတ်လေသော်) ထိုပင်လယ်မှာ ကွဲ၍သွားပြီးလျှင် (ရေ၏) အစုအပုံ အသီးသီးတို့မှာ ကြီးမား လှစွာသော တောင်ကြီးများပမာ ဖြစ်သွားခဲ့ကြလေ၏။ ၁

وَأَزْلَفْنَا ثَمَّ الْآخَرِينَ ﴿٦٤﴾

၆၄။ ၎င်းပြင် ငါအရှင်မြတ်သည် အခြားအုပ်စု (ဖြစ်သော 'ဖစ်ရ်အောင်န်' နှင့် ၎င်း၏ အခြွေအရံတို့)ကိုလည်း ထိုနေရာသို့ ပို့တော်မူခဲ့၏။

وَأَنجَيْنَا مُوسَىٰ وَمَن مَّعَهُ أَجْمَعِينَ ﴿٦٥﴾

၆၅။ ထိုမှတပါး ငါအရှင်မြတ်သည် မူစာအားလည်းကောင်း၊ ထိုမူစာ၏အပေါင်းပါတို့အားလည်းကောင်း၊ အားလုံးကိုပင် ကယ်တင်တော်မူခဲ့၏။

ثُمَّ أَغْرَقْنَا الْآخَرِينَ ﴿٦٦﴾

၆၆။ ထို့နောက် ငါအရှင်မြတ်သည် အခြားအုပ်စု (ဖြစ်သော 'ဖစ်ရ်အောင်န်' နှင့်၎င်း၏ အခြွေအရံတို့) ကို (ပင်လယ်နီတွင်) နစ်မြုပ်တော်မူခဲ့၏။

---

(၁) တမန်တော်မူစာသည် မိမိ၏ အမျိုးသားတို့အား အီဂျစ်ပြည်မှ ခေါ်ဆောင်ထွက်ခွာ၍ ပင်လယ်နီအရောက်တွင် အလ္လာဟ်အရှင်မြတ်က မိမိ၏ ကျေးဇူးတော်ဖြင့် ပင်လယ်နီရေထုကြီးကို ခွဲပေးတော် မူခဲ့သည့်အကြောင်း၊ ဖစ်ရ်အောင်န်နှင့်တကွ ၎င်း၏အခြွေအရံများကို ပင်လယ်နီ၌ပင် နစ်မြုပ် ကွပ်မျက်တော်မူခဲ့သည့် အကြောင်း ကုရ်အာန်(၂း၅၀)၏အဖွင့်၊ အကျယ်ဖွင့်ဆို ရေးသားခဲ့ပေပြီ။

၆၇။ မလွဲဧကန် ဤသည့်(ဖြစ်ရပ်)၌ ကြီးကျယ် လှစွာသော သင်ခန်းစာသည် ရှိပေသည်။ စင်စစ် သော်ကား ၎င်းတို့အနက် အများဆုံးသော သူတို့မှာ သက်ဝင်ယုံကြည်ကြမည့်သူများ မဟုတ်ခဲ့ကြချေ။

إِنَّ فِي ذَٰلِكَ لَآيَةً ۖ وَمَا كَانَ أَكْثَرُهُم مُّؤْمِنِينَ ﴿٦٧﴾

၆၈။ စင်စစ်မှာမူကား အသင့်အား ဖန်ဆင်းမွေးမြူ တော်မူသော အရှင်မြတ်သည်၊ ဧကန်အမှန် ထိုအရှင် မြတ်သည်ပင် အလွန်တရာလွှမ်းမိုးတော်မူသောအရှင်၊ အလွန်တရာ သနားကြင်နာတော် မူသောအရှင်၊ ဖြစ်တော် မူပေသတည်း။

وَإِنَّ رَبَّكَ لَهُوَ الْعَزِيزُ الرَّحِيمُ ﴿٦٨﴾

၆၉။ (အို-နဗီတမန်တော်၊) အသင်သည် ၎င်း (မက္ကာမြို့သား)တို့၏ရှေ့ဝယ် အီဗ်ရာဟီမ်၏အကြောင်း နှင့် အတ္ထုပ္ပတ္တိကို ပြန်ပြောပါလေ။

وَاتْلُ عَلَيْهِمْ نَبَأَ إِبْرَاهِيمَ ﴿٦٩﴾

၇၀။ တစ်ရံရောအခါဝယ် ထိုအီဗ်ရာဟီမ်သည် မိမိ ဖခင်အားလည်းကောင်း၊ မိမိအမျိုးသားတို့အားလည်း ကောင်း၊ 'အသင်တို့သည် မည်သည့်အရာကို ကိုးကွယ် ဆည်းကပ်လျက် ရှိကြသနည်း' ဟု ပြောဆို မေးမြန်း ခဲ့၏။

إِذْ قَالَ لِأَبِيهِ وَقَوْمِهِ مَا تَعْبُدُونَ ﴿٧٠﴾

၇၁။ ထိုအမျိုးသားတို့က ကျွန်ုပ်တို့သည် အရုပ်များ ကို ကိုးကွယ်ဆည်းကပ်ကြသည့်ပြင် ထိုအရုပ်များ၏ အပါး၌ပင် အခါခပ်သိမ်း စွဲလမ်းတွယ်ကပ်လျက် ရှိကြပေသည်ဟု ပြန်ကြားခဲ့ကြကုန်၏။

قَالُوا نَعْبُدُ أَصْنَامًا فَنَظَلُّ لَهَا عَاكِفِينَ ﴿٧١﴾

၇၂။ ထိုအီဗ်ရာဟီမ်က မေးမြန်းခဲ့၏။ အသင်တို့ ဟစ်ခေါ်ကြသောအခါထိုအရုပ်များသည် အသင်တို့၏ ဟစ်ခေါ်သံကို ကြားကြလေသလော။

قَالَ هَلْ يَسْمَعُونَكُمْ إِذْ تَدْعُونَ ﴿٧٢﴾

أَوْ يَنفَعُونَكُمْ أَوْ يَضُرُّونَ ﴿٧٣﴾

၇၃။ သို့မဟုတ်၊ ၎င်းတို့သည် (အသင်တို့အား) အကျိုးပြုကြလေသလော။ သို့တည်းမဟုတ် ၎င်းတို့သည် (အသင်တို့အား) အကျိုးယုတ်စေနိုင်ကြလေသလော။

قَالُوا بَلْ وَجَدْنَا آبَاءَنَا كَذَٰلِكَ يَفْعَلُونَ ﴿٧٤﴾

၇၄။ ထိုအမျိုးသားတို့က ထိုသို့ အလျှင်းမဟုတ်၊ စင်စစ်မှာကားကျွန်ုပ်တို့သည် မိမိတို့၏အဘ၊ ဘိုးဘေးတို့အား ဤအတိုင်း ပြုမူကြသည်ကို တွေ့ရှိခဲ့ကြပါသည်ဟု ဖြေကြားခဲ့ကြကုန်၏။

قَالَ أَفَرَأَيْتُم مَّا كُنتُمْ تَعْبُدُونَ ﴿٧٥﴾

၇၅။ ထိုအီဗ်ရာဟီမ်က အသင်တို့သည်မိမိတို့ ကိုးကွယ်ဆည်းကပ်လျက်ရှိကြသော အရာများ၏ (အခြေအနေ)ကို (လေ့လာသုံးသပ်)တွေ့မြင်ကြပြီလော။ ၁

أَنتُمْ وَآبَاؤُكُمُ الْأَقْدَمُونَ ﴿٧٦﴾

၇၆။ အသင်တို့သည်လည်းကောင်း၊ အသင်တို့၏ ရှေးဟောင်းအဘ၊ ဘိုးဘေးတို့သည်လည်းကောင်း၊

---

(၁) တမန်တော် အီဗ်ရာဟီမ်၏ဖခင်နှင့် အမျိုးသားများသည် တစ်စုံတစ်ရာ ကျိုးကြောင်း စဉ်းစားဆင်ခြင်ခြင်း မရှိဘဲ၊ မိဘ ရိုးရာ အစဉ်အလာတိုင်း တစ်စုံတစ်ရာ ကျိုးပြုစ်မပေးနိုင်သော အရုပ်များကို ဆည်းကပ်ကိုးကွယ်လျက်ရှိခဲ့ကြ၏။

တမန်တော် အီဗ်ရာဟီမ်က ထိုအရုပ်များသည် တစ်စုံတစ်ရာ ကြားလေသလော၊ အကျိုးပြုနိုင်သလော၊ အကျိုးယုတ်စေနိုင်သလောဟု မေးမြန်းရာ၊ အမျိုးသားများက အရုပ်များသည် ကြားလည်း မကြား၊ အကျိုးလည်းမပြုနိုင်၊ အကျိုးယုတ်နိုင် စေသည်လည်းမဟုတ်၊ မိဘရိုးရာ အစဉ်အလာအတိုင်း ဆည်းကပ်ကိုးကွယ်နေကြခြင်းသာ ဖြစ်ကြောင်းဖြင့် ဖြေဆိုကြလေသည်။

ထိုအခါ တမန်တော် အီဗ်ရာဟီမ်က အတိုင်းအဆမရှိသော တန်ခိုးတော်၊ ဉာဏ်တော်၊ ကျေးဇူးတော်များနှင့် ပြည့်စုံတော်မူသော အလ္လာဟ်အရှင်မြတ် သည်သာလျှင် အမှန်တကယ် ဆည်းကပ် ကိုးကွယ်ရာ အရှင်သခင် ဖြစ်တော်မူကြောင်း၊ အသင်တို့ ဆည်းကပ်ကိုးကွယ်လျက်ရှိသော အရုပ်များသည် ဓမ္မန္တရာယ်များသာ ဖြစ်ကြောင်း၊ အတိအလင်း ကြေညာခဲ့လေသည်။ ဤသည့်သဘောကို ကုရ်အာန်(၆း၈၀။ ၂၁း၅၇)တွင်လည်း မိန့်ဆိုထားတော်မူသည်။

အလ္လာဟ်အရှင်မြတ်၏ တန်ခိုးတော်၊ ကျေးဇူးတော်များကို ရှေ့အာယတ်တော်တွင် မိန့်ဆိုထားတော်မူသည်။

فَإِنَّهُمْ عَدُوٌّ لِّيٓ إِلَّا رَبَّ ٱلْعَٰلَمِينَ ﴿٧٧﴾

၇၇။ အကြောင်းမှာမူ ဧကန်မလွဲ ၎င်းတို့သည် ငါ၏ရန်သူများပင် ဖြစ်ကြကုန်၏။ သို့ရာတွင် စကြာဝဠာခပ်သိမ်းတို့ကို ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်မှာမူကား လောကီဘဝတွင်လည်းကောင်း၊ 'အာခိရတ်' တမလွန်ဘဝတွင်လည်းကောင်း၊ ငါ၏ အဆွေခင်ပွန်းပင် ဖြစ်တော်မူပေသတည်း။

ٱلَّذِي خَلَقَنِي فَهُوَ يَهْدِينِ ﴿٧٨﴾

၇၈။ အကြင်အရှင်မြတ်သည် ငါ့အားဖန်ဆင်းတော်မူခဲ့၏။ တစ်ဖန် ထိုအရှင်မြတ်သည်ပင်လျှင် ငါ့အား လမ်းညွှန်ပြတော်မူ၏။

وَٱلَّذِي هُوَ يُطْعِمُنِي وَيَسْقِينِ ﴿٧٩﴾

၇၉။ ၎င်းပြင် ထိုအရှင်မြတ်သည်ပင် ငါ့အား ကျွေးမွေးတော်မူ၏။ ထို့ပြင် ထိုအရှင်မြတ်သည်ပင် ငါ့အား တိုက်ကျွေးတော်မူ၏။

وَإِذَا مَرِضْتُ فَهُوَ يَشْفِينِ ﴿٨٠﴾

၈၀။ ထိုမှတပါး ငါသည် နာဖျားသောအခါ ထိုအရှင်မြတ်သည်ပင်လျှင် ငါ့အား (ဝေဒနာ)ပျောက်ကင်းစေတော်မူ၏။

وَٱلَّذِي يُمِيتُنِي ثُمَّ يُحْيِينِ ﴿٨١﴾

၈၁။ ထို့ပြင် ထိုအရှင်မြတ်သည်ပင် ငါ့အား (သေချိန်တွင်) သေစေတော်မူမည်။ ထို့နောက် ထိုအရှင်မြတ်သည်ပင် ငါ့အား (ကိယာမတ်နေ့တွင်) ရှင်စေတော်မူမည်။

وَٱلَّذِيٓ أَطْمَعُ أَن يَغْفِرَ لِي خَطِيٓـَٔتِي يَوْمَ ٱلدِّينِ ﴿٨٢﴾

၈၂။ ထိုမှတပါးထိုအရှင်မြတ်သည်ပင် တရားစီရင်မည့်နေ့တွင် ငါ၏မှားယွင်းချက်များကို ခွင့်လွှတ်တော်မူမည်ဖြစ်ကြောင်းငါမျှော်လင့်လျက်ပင်ရှိပေသတည်း၊[1]

---

① အလ္လာဟ်အရှင်မြတ်သည် ကာဖိရ်၊ မုရှ်ရစ်က်များ ဆည်းကပ်ကိုးကွယ်ကြသော အရုပ်များနှင့် လားလားမျှမတူ။ တန်ခိုးတော် ကျေးဇူးတော် အပေါင်းနှင့် ပြည့်စုံတော်မူသောအရှင် ဖြစ်တော်မူသည်။ တမန်တော် အီဗ်ရာဟီမ်သည် အထက်ပါ အာယတ်တော်များတွင် ပါရှိသည့်အတိုင်း အလ္လာဟ်အရှင်မြတ်၏ ကျွန်တော်ရင်း တစ်ပါးပီပီ ထိုအရှင်မြတ်ထံတော်၌ ရှေ့အာယတ်တော်တွင် ပါရှိသည့်အတိုင်း ဆုပန်ကြားခဲ့လေသည်။

رَبِّ هَبْ لِي حُكْمًا وَأَلْحِقْنِي بِالصَّالِحِينَ ﴿٨٣﴾

၈၃။ အို-ကျွန်တော်မျိုးအား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်၊ အရှင်မြတ်သည် ကျွန်တော်မျိုးအား ဉာဏ်ပညာကို ချီးမြှင့်ပေးသနားတော်မူပါ။ ထို့ပြင် အရှင်မြတ်သည် ကျွန်တော်မျိုးအား သူတော်စင်များနှင့်အတူ ပေါင်းဖက် ပါဝင်စေတော်မူပါ။

وَاجْعَل لِّي لِسَانَ صِدْقٍ فِي الْآخِرِينَ ﴿٨٤﴾

၈၄။ ၎င်းပြင် အရှင်မြတ်သည် ကျွန်တော်မျိုးအဖို့ နောင်လာနောက်သားများတွင် နာမည်ကောင်းခြင်းကို ပြုလုပ်၍ ပေးတော်မူပါ။ (တနည်း) အရှင်မြတ်သည် ကျွန်တော်မျိုးအဖို့ နောင်လာနောက်သားများတွင် *ကောင်းစွာ ကျော်ကြားမှုကို (ကောင်းစွာ သတိရခြင်းကို) ပြုလုပ်၍ ပေးတော်မူပါ။* [၁]

(၁) တမန်တော် အီဗ်ရာဟီမ်သည် အလ္လာဟ်အရှင်မြတ်ထံတော်၌ ဆုအမျိုးမျိုးပန်ကြားခဲ့၏။ ဆုတောင်းပြည့်ခဲ့၏။ ယင်းသည့် ဆုပန်ကြားချက်များတွင် တမန်တော်အီဗ်ရာဟီမ်က မိမိအား ကောင်းမွန်မြင့်မြတ်သော ကုသိုလ်ကောင်းမှုများ ပြုနိုင်စွမ်း ချီးမြှင့်တော်မူ၍ နောင်လာနောင်သားတို့တွင် မိမိ၏နာမည်ကောင်း ကျန်ရစ်နေစေအောင် ပြုလုပ်ပေးတော်မူပါမည့် အကြောင်း၊ နောင်လာနောင်သားတို့သည် မိမိအား အမြဲတစေ ကောင်းသော အမှတ်ရခြင်းမျိုးဖြင့် အမှတ်ရလျက် ရှိနေကြရန်၊ မိမိ၏ သာသနာ့လမ်းစဉ်ကို လိုက်နာကျင့်သုံးလျက် ရှိနေကြရန် ပြုလုပ်ပေးတော်မူပါမည့်အကြောင်း ပါဝင်ခဲ့၏။

ဤဆုပန်ကြားချက်၏ အလိုသဘောမှာ တနည်းအားဖြင့် ကျွန်တော်မျိုး၏ သားချင်းဆွေမျိုးများ အနက်မှပင် နောက်ဆုံးခေတ်တွင် ကျွန်တော်မျိုး၏ သာသနာ့လမ်းစဉ်ကို အမြဲတစေ အသစ်အသစ်ဖြစ်နေအောင် ပြုလုပ်ပေးမည့် တမန်တော်တစ်ပါးကို ပွင့်ပေါ်စေတော်မူပါမည့်အကြောင်း ဆုပန်ကြားခဲ့သည်ဟူ၍လည်း ဖြစ်နိုင်ပေသည်။

အသို့ပင်ဖြစ်စေကာမူ အလ္လာဟ်အရှင်မြတ်သည် ဤသည့်ဆုပန်ကြားမှုကိုလည်း ပြည့်ဝစေတော်မူခဲ့ပေသည်။ တမန်တော်အီဗ်ရာဟီမ်၏ ဆွေမျိုးဆက်မှပင် တမန်တော် အပေါင်းတို့၏ နောက်ဆုံးစွန်တွင် ပွင့်တော်မူသော တမန်တော်မြတ် မုဟမ္မဒ်(ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)အား ပွင့်ပေါ်စေတော်မူပြီး၊ တမန်တော် အီဗ်ရာဟီမ်၏ သာသနာ့လမ်းစဉ်ကိုပင် အမြဲတစေ အသစ်အသစ် ဖြစ်စေတော်မူခဲ့သည်။ တမန်တော်မြတ် ကိုယ်တော်တိုင်လည်း 'ကျွန်ုပ်သည် တမန်တော် အီဗ်ရာဟီမ်၏ ဆုပင်ဖြစ်သည်'ဟု ထုတ်ဖော်မြွက်ကြားတော် မူခဲ့ပေသည်။

ထို့ပြင်တစ်ဝ ယနေ့တိုင်လည်း မြောက်မြားစွာသော ဘာသာဝင်များသည် တမန်တော်အီဗ်ရာဟီမ်အား အမှတ်ရလျက် ရှိကြပေသည်။ ချီးမွမ်းလျက် ရှိကြပေသည်။ အထူးသဖြင့် မွတ်စ်လင်မ်များသည် ဆွလာတ်ဝတ်ပြုတိုင်း ဝတ်ပြုတိုင်း တမန်တော် အီဗ်ရာဟီမ်အား မေတ္တာပို့သလျက် ရှိကြပေသည်။ ဤအတိုင်း ကီယာမတ်တိုင် မေတ္တာပို့သလျက် ရှိကြမည်သာတည်း။

وَاجْعَلْنِي مِنْ وَرَثَةِ جَنَّةِ النَّعِيمِ ﴿٨٥﴾

၈၅။ ထို့ပြင် အရှင်မြတ်သည် ကျွန်တော်မျိုးအား ကျေးဇူးတော်နှင့် ပြည့်စုံသော 'ဂျန္နတ်' သုခဘုံ၏ အမွေစားအမွေခံ ပြုလုပ်တော်မူပါ။

وَاغْفِرْ لِأَبِي إِنَّهُ كَانَ مِنَ الضَّالِّينَ ﴿٨٦﴾

၈၆။ ထိုမှတပါး အရှင်မြတ်သည် ကျွန်တော်မျိုး၏ ဖခင်အား လွတ်ငြိမ်းချမ်းသာခွင့် ပေးသနားတော်မူပါ။ *ကေန်စင်စစ် ၎င်းမှာ လမ်းလွဲသူတို့တွင် အပါအဝင် ဖြစ်ပါသည်။* [၁]

وَلَا تُخْزِنِي يَوْمَ يُبْعَثُونَ ﴿٨٧﴾

၈၇။ ၎င်းပြင် အရှင်မြတ်သည် (လူသတ္တဝါ အပေါင်းတို့) ရှင်ပြန်ထကြရမည့်နေ့တွင် ကျွန်တော်မျိုးအား အရှက်တကွဲ ဖြစ်စေတော်မမူပါနှင့်။

يَوْمَ لَا يَنْفَعُ مَالٌ وَلَا بَنُونَ ﴿٨٨﴾

၈၈။ အကြင်နေ့တွင် ပစ္စည်းဥစ္စာသည် လည်းကောင်း၊ သား(သမီး)များသည် လည်းကောင်း၊ အသုံးဝင်မည် မဟုတ်ပါ။

إِلَّا مَنْ أَتَى اللَّهَ بِقَلْبٍ سَلِيمٍ ﴿٨٩﴾

၈၉။ သို့ရာတွင်အကြင်သူသည် အလ္လာဟ်အရှင်မြတ်အထံတော်သို့ စင်ကြယ်သန့်ရှင်းသောစိတ်နှလုံးနှင့်တကွ ရောက်ရှိခဲ့ပါလျှင် (ထိုသူသည် လွတ်ငြိမ်းချမ်းသာခွင့် ရရှိပေမည်)။ [၂]

---

(၁) တမန်တော် အီဗ်ရာဟီမ်သည် မိမိ၏ဖခင်ကြီးအတွက် သံယောဇဉ်ကြီးစွာဖြင့် လွတ်ငြိမ်းချမ်းသာခွင့် ပန်ကြားခဲ့လေသည်။ ယင်းသို့ ဆုပန်ကြားခဲ့ခြင်းမှာ ဖခင်ကြီး အသက်ထင်ရှားရှိစဉ် ပန်ကြားခဲ့ခြင်းသာ ဖြစ်သည်။ ဆိုလိုသည်ကား– အလ္လာဟ်အရှင်မြတ်သည် ဖခင်ကြီးအား အီမာန်ယုံကြည်နိုင်စွမ်း ပေးတော်မူပြီး၊ ကာဖိရ်ဖြစ်ခဲ့စဉ်က ပြစ်မှုများကို လွတ်ငြိမ်းခွင့် ပေးသနားတော်မူသည် ဖြစ်ပါစေသတည်း ဟူ၏။

အကယ်၍ ယင်းသို့ ဆုပန်ကြားခဲ့ခြင်းမှာ ဖခင်ကြီး သေဆုံးပြီးနောက်တွင် ဖြစ်ခဲ့ပါသော်၊ တမန်တော် အီဗ်ရာဟီမ်သည် မိမိထားရှိခဲ့သော ကတိအရ ဆုပန်ကြားခဲ့ခြင်းသာ ဖြစ်မည်။ သို့ရာတွင် နောင်တချိန် မိမိ၏ဖခင်မှာ အလ္လာဟ်အရှင်မြတ်၏ ရန်သူကြီးဖြစ်နေသည်ကို သိရှိသွားသောအခါတွင်မူ၊ တမန်တော် အီဗ်ရာဟီမ်သည် မိမိ၏ဖခင်အတွက် လွတ်ငြိမ်းခွင့် ပန်ကြားခြင်းမှ အတိအလင်း ငြင်းပယ်ခဲ့လေသည်။ ကြည့်– ကုရ်အာန် (၉း၁၁၄)။

(၂) ကိယာမတ်နေ့တွင် ဥစ္စာပစ္စည်း၊သား၊သမီးခြွေရံသင်းပင်းတို့သည်၊ အသို့မျှ အသုံးဝင်ကြမည်မဟုတ်ပေ၊ ➢➢

၉၀။ ၎င်းပြင် (ထိုနေ့တွင်) 'ဂျန္နတ်' သုခဘုံသည် ပြစ်မှုဒုစရိုက်တို့မှ ကြဉ်ရှောင်ကြကုန်သောသူတော်စင်တို့နှင့် နီးကပ်စွာထားရှိပြီး ဖြစ်ပေမည်။

وَأُزْلِفَتِ الْجَنَّةُ لِلْمُتَّقِينَ ﴿٩٠﴾

၉၁။ ထို့ပြင် 'ဂျဟန္နမ်' ငရဲသည် လမ်းလွဲသူတို့၏ ရှေ့ဝယ် ထင်ရှားစေခြင်းကို ခံရပေမည်။

وَبُرِّزَتِ الْجَحِيمُ لِلْغَاوِينَ ﴿٩١﴾

၉၂။ ထိုမှတပါး၎င်းတို့သည် 'အသင်တို့ ဆည်းကပ်ကိုးကွယ်လျက် ရှိခဲ့ကြသော ကိုးကွယ်ရာများသည် (ယခု) မည်သည့်နေရာ၌ ရှိကြသနည်း' ဟု ပြောဆိုမေးမြန်းခြင်းကို ခံကြရပေမည်။

وَقِيلَ لَهُمْ أَيْنَمَا كُنتُمْ تَعْبُدُونَ ﴿٩٢﴾

၉၃။ အလ္လာဟ်အရှင်မြတ်အား စွန့်၍ (အသင်တို့ကိုးကွယ်လျက်ရှိခဲ့ကြသော) ကိုးကွယ်ရာများသည် (ယခု) အသင်တို့အား ကူညီနိုင်ကြလေသလော။ သို့တည်းမဟုတ် ၎င်းတို့သည် မိမိတို့ကိုယ်ကို ကယ်တင်နိုင်ကြလေသလော။

مِن دُونِ اللَّهِ هَلْ يَنصُرُونَكُمْ أَوْ يَنتَصِرُونَ ﴿٩٣﴾

၉၄။ ထို့နောက် ထိုသူတို့သည်လည်းကောင်း၊ လမ်းလွဲသူတို့သည်လည်းကောင်း၊ 'ဂျဟန္နမ်'ငရဲ၌ မှောက်ထိုးပစ်ချခြင်းကို ခံကြရပေမည်။

فَكُبْكِبُوا فِيهَا هُمْ وَالْغَاوُونَ ﴿٩٤﴾

၉၅။ ထိုမှတပါး အီဗ်လီစ်၏ ဗိုလ်ခြေအပေါင်းတို့သည်လည်းကောင်း၊

وَجُنُودُ إِبْلِيسَ أَجْمَعُونَ ﴿٩٥﴾

၉၆။ ၎င်းတို့သည် ယင်း('ဂျဟန္နမ်' ငရဲ)၌ ငြင်းခုံလျက်ရှိကြစဉ် ပြောဆိုကြပေမည်။

قَالُوا وَهُمْ فِيهَا يَخْتَصِمُونَ ﴿٩٦﴾

---

➤➤ အကယ်၍ ကာဖိရ် တစ်ဦးတစ်ယောက်သည် ကိယာမတ်နေ့တွင် မိမိ၏ ဥစ္စာ၊ပစ္စည်း၊သား၊သမီးများကို အစားပေး၍ လွတ်မြောက်နိုင်မည်ထင်ပါက၊ ဤသည် အလျှင်းမဖြစ်နိုင်ပေ။ ဤပစ္စက္ခတွင် လှူဒါန်းခဲ့သော အလှူဒါနနှင့် သားကောင်း သမီးကောင်းများထံမှ တစ်စုံတစ်ရာ အကျိုးခံစားခွင့် ရရှိရန် မျှော်လင့်ချက်မှာလည်း ကုဖ်ရ်၊ ရှရစ်က်၊ နိဖာက်၊ မမှန်သော ယုံကြည်ချက် စသည့် အညစ်အကြေးများနှင့် လုံးဝစင်ကြယ်သန့်ရှင်း အပြစ်ကင်းသော စိတ်နှလုံး ရှိမှသာလျှင် ဖြစ်နိုင်ပေမည်။

၉၇။ အလ္လာဟ်အရှင်မြတ်၏ 'ကစမ်'။ ဧကန်အမှန် ကျွန်ုပ်တို့သည် အလွန်ထင်ရှားလှစွာသော လမ်းလွဲမှု၌ပင် ရှိခဲ့ကြကုန်၏။

تَاللّٰهِ اِنۡ كُنَّا لَفِىۡ ضَلٰلٍ مُّبِيۡنٍۙ ۝٩٧

၉၈။ အကြင်အခါဝယ် ကျွန်ုပ်တို့သည် အသင်တို့အား စကြာဝဠာခပ်သိမ်းတို့ကို ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်နှင့်အတူ ဂုဏ်ရည်တူများ ပြုလုပ်လျက် ရှိခဲ့ကြကုန်၏။

اِذۡ نُسَوِّيۡكُمۡ بِرَبِّ الۡعٰلَمِيۡنَ ۝٩٨

၉၉။ စင်စစ်သော်ကား ကျွန်ုပ်တို့အား (ဤအကြီးအကျယ်) ပြစ်မှုကျူးလွန်သူတို့သည်သာလျှင် လမ်းလွဲစေခဲ့ကြကုန်၏။

وَمَاۤ اَضَلَّنَاۤ اِلَّا الۡمُجۡرِمُوۡنَ ۝٩٩

၁၀၀။ ယခုသော်ကား ကျွန်ုပ်တို့အဖို့ ကြားဝင်အသနားခံပေးမည့်သူဟူ၍ တစ်ဦးတစ်ယောက်မျှပင် မရှိပြီ။

فَمَا لَـنَا مِنۡ شٰفِعِيۡنَۙ ۝١٠٠

၁၀၁။ ထိုနည်းတူစွာ ချစ်ကျွမ်းဝင် ရင်းနှီးသော အဆွေခင်ပွန်းဟူ၍လည်း တစ်ဦးတစ်ယောက်မျှပင် မရှိပြီ။

وَلَا صَدِيۡقٍ حَمِيۡمٍ ۝١٠١

၁၀၂။ သို့ဖြစ်ပေရာ အကယ်၍သာ ကျွန်ုပ်တို့သည် (လူလောကသို့) တစ်ဖန် ပြန်လည်သွားခွင့်ရရှိကြပါလျှင် ကောင်းလေစွ။ သို့ ပြန်သွားခွင့်ရရှိကြပါလျှင် ကျွန်ုပ်တို့သည် သက်ဝင် ယုံကြည်ကြရမည်။

فَلَوۡ اَنَّ لَـنَا كَرَّةً فَنَكُوۡنَ مِنَ
الۡمُؤۡمِنِيۡنَ ۝١٠٢

၁၀၃။ ဧကန်မလွဲ ဤ(သည့်ဖြစ်ရပ်)၌ အမှန်ပင် (ကြီးကျယ်လှသော) သင်ခန်းစာသည် ရှိပေသည်။ စင်စစ်သော်ကား ၎င်းတို့အနက် (မက္ကာမြို့သားကာဖိရ်များအနက်)အများစုမှာ သက်ဝင်ယုံကြည်မည့်သူများ မဟုတ်ကြပေ။

اِنَّ فِىۡ ذٰ لِكَ لَاٰيَةً  ؕ وَمَا كَانَ
اَكۡثَرُهُمۡ مُّؤۡمِنِيۡنَ ۝١٠٣

وَإِنَّ رَبَّكَ لَهُوَ الْعَزِيزُ الرَّحِيمُ ﴿١٠٤﴾

၁၀၄။ စင်စစ် အသင့်အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်မှာမူကား အလွန်တရာ လွှမ်းမိုးတော်မူသောအရှင်၊ အလွန်တရာ သနားကြင်နာတော်မူသောအရှင်၊ ဖြစ်တော်မူပေသတည်း။

كَذَّبَتْ قَوْمُ نُوحٍ الْمُرْسَلِينَ ﴿١٠٥﴾

၁၀၅။ 'နူဟ်'၏အမျိုးသားတို့သည် ရစူလ်တမန်တော်များအားမဟုတ်မမှန်ဟူ၍ စွပ်စွဲငြင်းပယ်ခဲ့ကြကုန်၏၊[1]

إِذْ قَالَ لَهُمْ أَخُوهُمْ نُوحٌ أَلَا تَتَّقُونَ ﴿١٠٦﴾

၁၀၆။ အကြင်အခါဝယ် ၎င်းတို့အား ၎င်းတို့၏ နောင်တော် 'နူဟ်' က (ဤသို့) ပြောကြားခဲ့၏။ (အချင်းတို့၊) အသင်တို့သည် (အလ္လာဟ်အရှင်မြတ်အား) မကြောက်ရွံ့ကြလေသလော။

إِنِّي لَكُمْ رَسُولٌ أَمِينٌ ﴿١٠٧﴾

၁၀၇။ ဧကန်မလွဲ ငါသည် အသင်တို့အဖို့ ယုံကြည်စိတ်ချအပ်သော ရစူလ်တမန်တော်တစ်ပါးပင်ဖြစ်၏။

فَاتَّقُوا اللَّهَ وَأَطِيعُونِ ﴿١٠٨﴾

၁၀၈။ သို့ဖြစ်ပေရာ အသင်တို့သည် အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ကြလေကုန်။ ၎င်းပြင် အသင်တို့သည် ငါ၏အမိန့်ကို လိုက်နာကြလေကုန်။

وَمَا أَسْأَلُكُمْ عَلَيْهِ مِنْ أَجْرٍ إِنْ أَجْرِيَ إِلَّا عَلَىٰ رَبِّ الْعَالَمِينَ ﴿١٠٩﴾

၁၀၉။ စင်စစ် ငါသည် ဤအမိန့်တော်ကို ပို့ဆောင်ခြင်းနှင့်စပ်လျဉ်း၍ အသင်တို့ထံ မည်သည့်အကျိုးတစ်စုံတစ်ရာကိုမျှ တောင်းဆိုသည်မဟုတ်ပေ။ ငါ့အား အကျိုးပေးရန်တာဝန်မှာ စကြာဝဠာခပ်သိမ်းတို့ကို ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ် အပေါ်၌သာ ရှိ၏။

---

(၁) ဤအာယတ်တော်တွင် တမန်တော်နူဟ်၏ အမျိုးသားများသည် ငြင်းဆိုခဲ့ကြသည်ဟူ၍ မိန့်ဆိုထားတော်မူသည်။ အကြောင်းကား တမန်တော် တစ်ပါးအား ငြင်းဆိုခြင်းသည် တမန်တော်အပေါင်းတို့အား ငြင်းဆိုရာ မည်ခြင်းကြောင့်ပင်။

فَاتَّقُوا اللّٰهَ وَاَطِيْعُوْنِ ﴿١١٠﴾

၁၁၀။ သို့ဖြစ်ပေရာ အသင်တို့သည် အလ္လာဟ် အရှင်မြတ်အား ကြောက်ရွံ့ကြလေကုန်။ ထိုမှတပါး အသင်တို့သည် ငါ၏အမိန့်ကို လိုက်နာကြလေကုန်။

قَالُوْٓا اَنُؤْمِنُ لَكَ وَاتَّبَعَكَ الْاَرْذَلُوْنَ ﴿١١١﴾

၁၁၁။ ထိုအမျိုးသားတို့က ကျွန်ုပ်တို့သည် အသင့်အား ယုံကြည်ကြရမည်လော။ အမှန်စင်စစ် ဂုဏ်အသရေ သေးသိမ်သူတို့သာလျှင် အသင်၏ နောက်လိုက်များ ဖြစ်ကြသည်ဟု ပြောဆိုခဲ့ကြကုန်၏။

قَالَ وَمَا عِلْمِيْ بِمَا كَانُوْا يَعْمَلُوْنَ ﴿١١٢﴾

၁၁၂။ ထိုနူဟ်က(ဤသို့)ပြန်ကြားခဲ့၏၊ (အချင်းတို့၊) ငါသည် ၎င်းတို့၏ အလုပ်အကိုင်နှင့်စပ်လျဉ်း၍ မည်သည်ကို သိရှိရန် လိုပါသနည်း။

اِنْ حِسَابُهُمْ اِلَّا عَلٰى رَبِّيْ لَوْ تَشْعُرُوْنَ ﴿١١٣﴾

၁၁၃။ ၎င်းတို့အား စစ်ဆေးရန်တာဝန်မှာ ငါ့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်အပေါ်၌သာ ရှိကြောင်း အသင်တို့နားလည်ကြပါလျှင် ကောင်းလေစွ။

وَمَآ اَنَا بِطَارِدِ الْمُؤْمِنِيْنَ ﴿١١٤﴾

၁၁၄။ စင်စစ်ငါသည် မုအ်မင်န်သက်ဝင်ယုံကြည်သူတို့အား(မိမိအပါးမှ)နှင်ထုတ်မည့်သူမဟုတ်ပြီ။ ၁

---

① တမန်တော်နူဟ်၏ အမျိုးသားများအနက် မျက်နှာကြီးများက 'အသင့်အား ယခု ထောက်ခံနေသူများမှာ အလွန်ဂုဏ်သိမ် သေးသိမ်သူများ၊ အဆင့်အတန်း အလွန်နိမ့်ကျသူများသာ ဖြစ်ကြပေရာ၊ ကျွန်ုပ်တို့သည် ၎င်းတို့နှင့် ကြမ်းတပြေးတည်းထိုင်ကာ အသင့်အားအသို့လျှင် ယုံကြည်ထောက်ခံ နိုင်ကြအံ့နည်း။ အသင်သည် ၎င်းတို့အားပထမ မိမိထံမှနှင်ထုတ်ပါ။ ထို့နောက်မှ ကျွန်ုပ်တို့နှင့် စကားပြောပါ'ဟု ဆိုခဲ့ကြ၏။

ထိုအခါ တမန်တော် နူဟ်က- ကျွန်ုပ်သည် ၎င်းတို့၏ အလုပ်အကိုင်ကို မကြည့်ပါ။ ဆင်းရဲမှု၊ ချမ်းသာမှုကိုလည်း မကြည့်ပါ။ ၎င်းတို့၏ အတွင်းရေးကိုလည်း သိရန်မလိုပါ။ ၎င်းတို့အား စစ်ဆေးမေးမြန်း၍ စီရင်ဆုံးဖြတ်ရန် တာဝန်မှာ အလ္လာဟ်အရှင်မြတ် နှင့်သာလျှင် သက်ဆိုင်ပါသည်။ ကျွန်ုပ်သည် ၎င်းတို့၏ ယုံကြည်မှုနှင့် မှန်ကန်မှုကိုသာ ကြည့်ပါသည်။ မျက်နှာကြီးသည်၊ ငယ်သည်၊ ချမ်းသာသည်၊ ဆင်းရဲသည်များကို မကြည့်ပါ။ အသင်တို့ ပြောဆိုကြသည့်အတွက် မျက်နှာကြီးများကို ထောက်ထားပြီး၊ အီမာန် ယုံကြည်ကြကုန်သော မျက်နှာငယ်မုအ်မင်န်တို့အား မည်သည့်နည်းနှင့်မျှ မိမိထံမှ နှင်ထုတ်မည်မဟုတ်ပါ'ဟု တိကျပြတ်သားစွာ ပြန်လည်ဖြေကြားခဲ့လေသည်။

إِنْ أَنَا إِلَّا نَذِيرٌ مُّبِينٌ ﴿١١٥﴾

**၁၁၅။** ငါသည် ရှင်းလင်းထင်ရှားစွာ သတိပေး နှိုးဆော်သူ တစ်ဦးမျှ ဖြစ်၏။

قَالُوا لَئِن لَّمْ تَنتَهِ يَا نُوحُ لَتَكُونَنَّ مِنَ الْمَرْجُومِينَ ﴿١١٦﴾

**၁၁၆။** ထိုအမျိုးသားတို့က အို-နူဟ်။ အကယ်၍ အသင်သည် (မိမိဆုံးမသြဝါဒပေးခြင်းကို) မရပ်တန့် ခဲ့ပါလျှင် ဧကန်မလွဲ အသင်သည် ခဲပစ်ပေါက်(၍ သတ်ဖြတ်)ခြင်းကို ခံရသူတို့တွင် အပါအဝင် ဖြစ် ပေမည်။

قَالَ رَبِّ إِنَّ قَوْمِي كَذَّبُونِ ﴿١١٧﴾

**၁၁၇။** ထိုနူဟ်က (အလ္လာဟ်အရှင်မြတ်အထံတော်သို့ ဤသို့) လျှောက်ထားပန်ကြားခဲ့လေ၏။ အို-ကျွန်တော် မျိုးအား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၊ ဧကန်စင်စစ် ကျွန်တော်မျိုး၏ အမျိုးသားတို့သည် ကျွန်တော်မျိုးအား မဟုတ်မမှန်ဟူ၍ စွပ်စွဲငြင်းပယ် ခဲ့ကြလေပြီ။

فَافْتَحْ بَيْنِي وَبَيْنَهُمْ فَتْحًا وَنَجِّنِي وَمَن مَّعِيَ مِنَ الْمُؤْمِنِينَ ﴿١١٨﴾

**၁၁၈။** သို့ဖြစ်ပါ၍ အရှင်မြတ်သည် ကျွန်တော်မျိုး နှင့် ၎င်းတို့၏အကြား၌ ထင်ရှားစွာသောအဆုံးအဖြတ် ကိုစီရင်ဆုံးဖြတ်ပေးတော်မူပါ။ ထိုမှတပါး အရှင်မြတ် သည် ကျွန်တော်မျိုးအားလည်းကောင်း၊ ကျွန်တော် မျိုးနှင့်အတူရှိကုန်သော မုအ်မင်န် သက်ဝင်ယုံကြည်သူ တို့အားလည်းကောင်း၊ ကယ်တင်တော်မူပါ။

فَأَنجَيْنَاهُ وَمَن مَّعَهُ فِي الْفُلْكِ الْمَشْحُونِ ﴿١١٩﴾

**၁၁၉။** သို့ဖြစ်ပေရာ ငါအရှင်မြတ်သည် ထိုနူဟ်အား လည်းကောင်း၊ ထိုနူဟ်နှင့်အတူ ဝန်အပြည့်တင်ထား သောသင်္ဘော၌ပါလာကြကုန်သော မုအ်မင်န်သက်ဝင် ယုံကြည်သူတို့အားလည်းကောင်း၊ ကယ်တင်တော် မူခဲ့လေ၏။

ثُمَّ اَغْرَقْنَا بَعْدُ الْبَاقِيْنَ ﴿١٢٠﴾

၁၂၀။ ထို့နောက် တစ်ဖန် ငါအရှင်မြတ်သည် ကျန်ရှိသူတို့အား နှစ်မြှုပ်တော်မူခဲ့၏။ [၁]

اِنَّ فِيْ ذٰلِكَ لَاٰيَةً ۚ وَمَا كَانَ اَكْثَرُهُمْ مُّؤْمِنِيْنَ ﴿١٢١﴾

၁၂၁။ ကေန်မလွဲ ဤသည့်ဖြစ်ရပ်၌ (ကြီးကျယ်လှသော) သင်ခန်းစာသည်ရှိ၏။ စင်စစ်သော်ကား ၎င်းတို့အနက် (မက္ကာမြို့သား ကာဖိရ်များအနက်) အများဆုံးသောသူတို့မှာ သက်ဝင်ယုံကြည်မည့်သူများ မဟုတ်ကြပေ။

وَاِنَّ رَبَّكَ لَهُوَ الْعَزِيْزُ الرَّحِيْمُ ﴿١٢٢﴾

၁၂၂။ စင်စစ် အသင့်အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်မှာမူကား၊ အလွန်တရာ လွှမ်းမိုးတော်မူသောအရှင်၊ အလွန်တရာ သနားကြင်နာတော်မူသောအရှင် ဖြစ်တော်မူပေသတည်း။

كَذَّبَتْ عَادُ ۨالْمُرْسَلِيْنَ ﴿١٢٣﴾

၁၂၃။ *'အာဒ်' အမျိုးသားတို့သည်လည်း* [၂] ရစူလ်တမန်တော်တို့အား မဟုတ်မမှန်ဟူ၍ စွပ်စွဲ ငြင်းပယ်ခဲ့ကြကုန်၏။

اِذْ قَالَ لَهُمْ اَخُوْهُمْ هُوْدٌ اَلَا تَتَّقُوْنَ ﴿١٢٤﴾

၁၂၄။ အကြင်အခါဝယ် ၎င်းတို့၏နောင်တော် 'ဟူဒ်' က ပြောကြားခဲ့၏။ (အချင်းတို့၊) အသင်တို့သည် (အလ္လာဟ်အရှင်မြတ်အား)မကြောက်ရွံ့ကြလေသလော။

اِنِّيْ لَكُمْ رَسُوْلٌ اَمِيْنٌ ﴿١٢٥﴾

၁၂၅။ ကေန်မလွဲ ငါသည် အသင်တို့အဖို့ ယုံကြည်စိတ်ချအပ်သော ရစူလ်တမန်တော်တစ်ပါးပင် ဖြစ်သည်။

---

(၁) နောက်ဆုံးတွင် အလ္လာဟ်အရှင်မြတ်သည် တမန်တော်နူဟ်နှင့်အတူ သင်္ဘောပေါ်တွင်ပါရှိသော မုအ်မင်န်တို့အား ကယ်တင်၍၊ ကျန်ကာဖိရ်များအား ရေဘေးသင့်စေတော် မူခဲ့လေသည်။ ဤအကြောင်း ကုရ်အာန်(၇:၅၉-၆၄။ ၁၁:၃၆-၄၇)တွင် အကျယ်တဝင့် တွေ့ရှိရပေသည်။

(၂) တမန်တော်ဟူဒ်နှင့် အာဒ်အမျိုးသားများ အကြောင်း ကုရ်အာန်(၇:၆၅-၇၂။ ၁၁:၅၀-၆၀)တွင် အကျယ်တဝင့်ပါရှိခဲ့လေပြီ။ သက်ဆိုင်ရာ အဖွင့်များကို ပြန်လည်ရှုပါကုန်။

فَاتَّقُوا اللّٰهَ وَاَطِيْعُوْنِ ﴿١٢٦﴾

၁၂၆။ သို့ဖြစ်ပေရာ အသင်တို့သည် အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ကြလေကုန်။ ၎င်းပြင် အသင်တို့သည် ငါ၏အမိန့်ကို လိုက်နာကြလေကုန်။

وَمَآ اَسْـَٔلُكُمْ عَلَيْهِ مِنْ اَجْرٍ ۚ اِنْ اَجْرِيَ اِلَّا عَلٰى رَبِّ الْعٰلَمِيْنَ ﴿١٢٧﴾

၁၂၇။ စင်စစ် ငါသည် အသင်တို့ထံ ဤအမိန့်တော်ပို့ဆောင်ခြင်းနှင့် စပ်လျဉ်း၍ မည်သည့်အကျိုးတစ်စုံတရာကိုမျှ တောင်းဆိုသည်မဟုတ်ပေ။ ငါ့အား အကျိုးပေးရန် တာဝန်မှာ စကြာဝဠာခပ်သိမ်းတို့ကို ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်အပေါ်၌သာ ရှိ၏။

اَتَبْنُوْنَ بِكُلِّ رِيْعٍ اٰيَةً تَعْبَثُوْنَ ﴿١٢٨﴾

၁၂၈။ အသင်တို့သည်ကုန်းမြင့်တိုင်း၌ အထိမ်းအမှတ်တစ်ခု အချည်းနှီး တည်ဆောက်ကြလေသလော။

وَتَتَّخِذُوْنَ مَصَانِعَ لَعَلَّكُمْ تَخْلُدُوْنَ ﴿١٢٩﴾

၁၂၉။ ထိုမှတပါး အသင်တို့သည် မိမိတို့ အမြဲနေထိုင်ကြရမည်ကဲ့သို့ပင် ကြီးကျယ်ခမ်းနားသော တိုက်တာ ဂေဟာများကို ပြုလုပ် တည်ဆောက်ကြကုန်၏။

وَاِذَا بَطَشْتُمْ بَطَشْتُمْ جَبَّارِيْنَ ﴿١٣٠﴾

၁၃၀။ ထိုမှတပါးအသင်တို့သည် ဖမ်းဆီး အရေးယူကြလေသောအခါ ရက်စက်ကြမ်းကြုတ်သူများအဖြစ် ဖမ်းဆီး အရေးယူကြကုန်၏။

فَاتَّقُوا اللّٰهَ وَاَطِيْعُوْنِ ﴿١٣١﴾

၁၃၁။ သို့ဖြစ်ပေရာ အသင်တို့သည် အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ကြလေကုန်။ ထိုမှတပါး အသင်တို့သည် ငါ၏အမိန့်ကို လိုက်နာကြလေကုန်။

وَاتَّقُوا الَّذِيْٓ اَمَدَّكُمْ بِمَا تَعْلَمُوْنَ ﴿١٣٢﴾

၁၃၂။ ၎င်းပြင်အသင်တို့သည် အကြင်အရှင်မြတ်အား ကြောက်ရွံ့ကြလေကုန်၊ ထိုအရှင်မြတ်သည် အသင်တို့အား အသင်တို့ သိရှိကြကုန်သောအရာများဖြင့် ကူညီ ဆောင်မတော်မူခဲ့၏။

၁၃၃။ ထိုအရှင်မြတ်သည် အသင်တို့အား ကျွဲ၊ နွား၊ ကုလားအုတ် တည်းဟူသော တိရစ္ဆာန်များဖြင့်လည်းကောင်း၊ သားသမီး ရတနာများဖြင့်လည်းကောင်း၊ ကူညီဆောင်မတော်မူခဲ့၏။

أَمَدَّكُم بِأَنْعَامٍ وَبَنِينَ ١٣٣

၁၃၄။ ထိုမှတပါး ဥယျာဉ်များဖြင့်လည်းကောင်း၊ စမ်းချောင်းများဖြင့်လည်းကောင်း၊ (ကူညီတော်မူခဲ့၏)။

وَجَنَّاتٍ وَعُيُونٍ ١٣٤

၁၃၅။ ကေန်စင်စစ် ငါသည် အသင်တို့နှင့် ပတ်သက်၍ ကြီးကျယ်လှစွာသော(ကိယာမတ် ရှင်ပြန်ထမည့်)နေ့၏ပြစ်ဒဏ်ကို စိုးရိမ်မိပေသည်တကား။

إِنِّي أَخَافُ عَلَيْكُمْ عَذَابَ يَوْمٍ عَظِيمٍ ١٣٥

၁၃၆။ ထိုအမျိုးသားတို့ကပြောဆိုခဲ့ကြကုန်၏။ (အိုဟူဒ်၊) အသင်သည် ဆုံးမသည်ဖြစ်စေ၊ ဆုံးမခြင်း မပြုသည်ဖြစ်စေ၊ ကျွန်ုပ်တို့အဖို့ အကြောင်းမထူးပေ။

قَالُوا سَوَاءٌ عَلَيْنَا أَوَعَظْتَ أَمْ لَمْ تَكُن مِّنَ الْوَاعِظِينَ ١٣٦

၁၃၇။ ဤသည် ရှေးလူဟောင်းတို့၏ ဓလေ့ထုံးစံမျှဖြစ်ပေ၏။

إِنْ هَٰذَا إِلَّا خُلُقُ الْأَوَّلِينَ ١٣٧

၁၃၈။ စင်စစ် ကျွန်ုပ်တို့သည် ပြစ်ဒဏ်ပေးခြင်းခံကြ ရမည့်သူများ မဟုတ်ပေ။

وَمَا نَحْنُ بِمُعَذَّبِينَ ١٣٨

၁၃၉။ အချုပ်မှာ ၎င်းအမျိုးသားတို့သည် ထိုဟူဒ်အား မဟုတ်မမှန်ဟူ၍ စွပ်စွဲငြင်းပယ်ခဲ့ကြပေရာ ငါ အရှင်မြတ်သည် ထိုအမျိုးသားတို့အား ပြင်းထန်လှစွာသော လေပြင်းမုန်တိုင်းဖြင့် ကွပ်မျက်ဖျက်ဆီးတော်မူခဲ့၏။ ကေန်မလွဲဤသည့်ဖြစ်ရပ်၌လည်း (ကြီးကျယ်လှစွာသော) သင်ခန်းစာ ရှိပေ၏။ သို့ရာတွင် ၎င်းတို့ (မက္ကာမြို့သား ကာဖိရ်များ)အနက် အများဆုံးသောသူတို့မှာကား သက်ဝင် ယုံကြည်မည့်သူများ မဟုတ်ကြချေ။

فَكَذَّبُوهُ فَأَهْلَكْنَاهُمْ ۗ إِنَّ فِي ذَٰلِكَ لَآيَةً ۖ وَمَا كَانَ أَكْثَرُهُم مُّؤْمِنِينَ ١٣٩

وَإِنَّ رَبَّكَ لَهُوَ الْعَزِيزُ الرَّحِيمُ ﴿١٤٠﴾

၁၄၀။ စင်စစ် အသင့်အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်မှာမူကား အလွန်တရာ လွှမ်းမိုးတော်မူသောအရှင်၊ အလွန်တရာ သနားကြင်နာတော်မူသောအရှင် ဖြစ်တော်မူပေသတည်း။

كَذَّبَتْ ثَمُودُ الْمُرْسَلِينَ ﴿١٤١﴾

၁၄၁။ 'ဆမူဒ်' အမျိုးသားတို့သည်လည်း [၁] ရစူလ်တမန်တော်တို့အား မဟုတ်မမှန် ဟူ၍ ငြင်းပယ်ခဲ့ကြကုန်၏။

إِذْ قَالَ لَهُمْ أَخُوهُمْ صَالِحٌ أَلَا تَتَّقُونَ ﴿١٤٢﴾

၁၄၂။ အကြင်အခါဝယ် ၎င်းတို့အား ၎င်းတို့၏ နောင်တော် တမန်တော်ဆွာလိဟ်က ပြောကြားခဲ့၏။ (အချင်းတို့၊)အသင်တို့သည်(အလ္လာဟ်အရှင်မြတ်အား) မကြောက်ရွံ့ကြလေသလော။

إِنِّي لَكُمْ رَسُولٌ أَمِينٌ ﴿١٤٣﴾

၁၄၃။ ဧကန်မလွဲ ငါသည် အသင်တို့အဖို့ ယုံကြည်စိတ်ချအပ်သော ရစူလ် တမန်တော်တစ်ပါးပင် ဖြစ်ပေ၏။

فَاتَّقُوا اللَّهَ وَأَطِيعُونِ ﴿١٤٤﴾

၁၄၄။ သို့ဖြစ်ပေရာ အသင်တို့သည် အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ကြလေကုန်။ ၎င်းပြင် အသင်တို့သည် ငါ၏အမိန့်ကို လိုက်နာကြလေကုန်။

وَمَا أَسْأَلُكُمْ عَلَيْهِ مِنْ أَجْرٍ إِنْ أَجْرِيَ إِلَّا عَلَىٰ رَبِّ الْعَالَمِينَ ﴿١٤٥﴾

၁၄၅။ စင်စစ် ငါသည် အသင်တို့ထံ ဤအမိန့်တော်ပို့ဆောင်ခြင်းနှင့်စပ်လျဉ်း၍၊ မည်သည့် အကျိုးတစ်စုံတစ်ရာကိုမျှ တောင်းဆိုသည်မဟုတ်ပေ။ ငါ့အားအကျိုးပေးရန်တာဝန်မှာ စကြာဝဠာခပ်သိမ်းတို့ကို ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်အပေါ်၌သာ ရှိ၏။

(၁) တမန်တော်ဆွာလိဟ်နှင့် ဆမူဒ်အမျိုးသားများအကြောင်း အကြိမ်ကြိမ်ပါရှိခဲ့ပေပြီ။
ကြည့်-ကုရ်အာန်(၇း၇၃-၇၉။၁၁း၆၁-၆၈)။

أَتُتْرَكُونَ فِي مَا هَاهُنَا آمِنِينَ ١٤٦

**၁၄၆။** အသင်တို့သည် ဤပစ္စက္ခဘဝ၌ရှိသော အရာများတွင် စိတ်အေးချမ်းစွာနေခြင်းကို လျစ်လျူပြုထားခြင်းကို ခံကြရမည်လော။

فِي جَنَّاتٍ وَعُيُونٍ ١٤٧

**၁၄၇။** ဥယျာဉ်များ၌လည်းကောင်း၊ စမ်းချောင်းများ၌လည်းကောင်း၊

وَزُرُوعٍ وَنَخْلٍ طَلْعُهَا هَضِيمٌ ١٤٨

**၁၄၈။** လယ်ယာများ၌လည်းကောင်း၊ အကြင် စွန်ပလွံခြံများ၌လည်းကောင်း၊ ထိုစွန်ပလွံပင်များ၏ အဖူးအညွှန့်များမှာ နူးညံ့လျက်ရှိ၏။ (တနည်း) ထိုစွန်ပလွံပင်မှ စွန်ပလွံသီးအခိုင်များမှာ ပြွတ်လျက်ရှိ၏။

وَتَنْحِتُونَ مِنَ الْجِبَالِ بُيُوتًا فَرِهِينَ ١٤٩

**၁၄၉။** ၎င်းပြင် အသင်တို့သည် တောင်များကို အိမ်များဖြစ်အောင် ကျွမ်းကျင်စွာ ထွင်းကြကုန်၏။ (တနည်း) ၎င်းပြင် အသင်တို့သည် မော်ကြွားလျက် တောင်များကို အိမ်များဖြစ်အောင် ထွင်းကြကုန်၏။

فَاتَّقُوا اللَّهَ وَأَطِيعُونِ ١٥٠

**၁၅၀။** သို့ဖြစ်ပေရာ အသင်တို့သည် အလ္လာဟ် အရှင်မြတ်အား ကြောက်ရွံ့ကြလေကုန်။ ၎င်းပြင် အသင်တို့သည် ငါ၏အမိန့်ကို လိုက်နာကြလေကုန်။

وَلَا تُطِيعُوا أَمْرَ الْمُسْرِفِينَ ١٥١

**၁၅၁။** သို့ရာတွင်အသင်တို့သည် စည်းကမ်းဥပဒေကို ကျူးလွန်ဖောက်ဖျက်သူတို့၏အမိန့်ကို မလိုက်နာကြကုန်လင့်။

الَّذِينَ يُفْسِدُونَ فِي الْأَرْضِ وَلَا يُصْلِحُونَ ١٥٢

**၁၅၂။** အကြင်သူတို့သည် တိုင်းပြည်တွင် ပျက်စီးရာ ပျက်စီးကြောင်းကို ပြုလုပ်ကြကုန်၏။ သို့ရာတွင် ထိုသူတို့သည် (တိုင်းပြည်ကို သာယာဝပြောအောင်) ပြုပြင်ကြသည်ကား မဟုတ်ကြပေ။

قَالُوٓا إِنَّمَآ أَنتَ مِنَ الْمُسَحَّرِينَ ﴿١٥٣﴾

**၁၅၃။** ထို 'ဆမူဒ်' အမျိုးသားတို့က ပြောဆိုခဲ့ကြကုန်၏။ (အို-ဆွာလိဟ်၊) အသင်သည် ပြင်းထန်စွာ စုန်းပြုစားခြင်း ခံရသူတစ်ဦးသာလျှင်ဖြစ်၏။

مَآ أَنتَ إِلَّا بَشَرٌ مِّثْلُنَا فَأْتِ بِـَٔايَةٍ إِن كُنتَ مِنَ الصَّٰدِقِينَ ﴿١٥٤﴾

**၁၅၄။** အသင်သည်ကျွန်ုပ်တို့ကဲ့သို့ပင် လူသားတစ်ဦးမှတပါး အခြားမဟုတ်ပြီ။ သို့ဖြစ်ပေရာ အသင်သည် သစ္စာဝါဒီ အမှန်ဆိုသူတစ်ဦး ဖြစ်ခဲ့ပါလျှင် သက်သေလက္ခဏာ တစ်စုံတစ်ရာကို ယူဆောင်လာခဲ့ပါလေ။

قَالَ هَٰذِهِۦ نَاقَةٌ لَّهَا شِرْبٌ وَلَكُمْ شِرْبُ يَوْمٍ مَّعْلُومٍ ﴿١٥٥﴾

**၁၅၅။** ထိုဆွာလိဟ်က ပြောကြားခဲ့၏။ ဤသည် ကုလားအုတ်မတစ်ကောင်ဖြစ်၏။ ယင်း ကုလားအုတ်မ၌ ရေသောက်ရန် အလှည့်တစ်လှည့်ရှိ၍ အသင်တို့၌လည်း သတ်မှတ်ထားပြီးဖြစ်သော နေ့တစ်နေ့တွင် ရေသောက်ရန် အလှည့်တစ်လှည့်သည် ရှိ၏။

وَلَا تَمَسُّوهَا بِسُوٓءٍ فَيَأْخُذَكُمْ عَذَابُ يَوْمٍ عَظِيمٍ ﴿١٥٦﴾

**၁၅၆။** ၎င်းပြင် အသင်တို့သည် ထိုကုလားအုတ်မကို မကောင်းသော စေတနာနှင့် မထိပါးကြကုန်လင့်။ သို့ထိပါးခဲ့ကြလျှင် ကြီးကျယ်လှစွာသော(ကိယာမတ်ရှင်ပြန်ထမည့်)နေ့၏ပြစ်ဒဏ်သည် အသင်တို့အား ဖမ်းဆီး ကွပ်မျက်မည်ဖြစ်၏။

فَعَقَرُوهَا فَأَصْبَحُوا نَٰدِمِينَ ﴿١٥٧﴾

**၁၅၇။** သို့တစေ ၎င်း 'ဆမူဒ်' အမျိုးသားတို့သည် ထိုကုလားအုတ်မ၏ ခြေများကို ဖြတ်တောက်ခဲ့ကြကုန်၏။ ထို့နောက် ၎င်းတို့သည် နောင်တရရှိသူများ ဖြစ်သွားခဲ့ကြကုန်၏။

فَأَخَذَهُمُ الْعَذَابُ إِنَّ فِى ذَٰلِكَ لَءَايَةً وَمَا كَانَ أَكْثَرُهُم مُّؤْمِنِينَ ﴿١٥٨﴾

**၁၅၈။** သို့ဖြစ်ပေရာ ပြစ်ဒဏ်သည် ၎င်းတို့အား ဖမ်းဆီးကွပ်မျက်ခဲ့၏။ ဧကန်မလွဲ ဤသည့်ဖြစ်ရပ်၌လည်း (ကြီးကျယ်လှစွာသော) သင်ခန်းစာသည် ရှိပေ၏။ သို့ရာတွင် ၎င်း(မက္ကာမြို့သား ကာဖိရ်များအနက်) အများဆုံးသောသူတို့မှာ သက်ဝင်ယုံကြည်ကြမည့်သူများ မဟုတ်ကြချေ။

وَإِنَّ رَبَّكَ لَهُوَ الْعَزِيزُ الرَّحِيمُ ﴿١٥٩﴾

**၁၅၉။** စင်စစ် အသင့်အား ဖန်ဆင်း မွေးမြူတော်မူသောအရှင်မြတ်မှာမူကား အလွန်တရာ လွှမ်းမိုးတော်မူသောအရှင်၊ အလွန်တရာသနားကြင်နာတော်မူသောအရှင်၊ ဖြစ်တော်မူပေသတည်း။

كَذَّبَتْ قَوْمُ لُوطٍ الْمُرْسَلِينَ ﴿١٦٠﴾

**၁၆၀။** 'လူတ်'၏ အမျိုးသားတို့သည် [၁] (လည်း) ရစူလ်တမန်တော်တို့အား မဟုတ်မမှန် ဟူ၍ စွပ်စွဲငြင်းပယ်ခဲ့ကြကုန်၏။

إِذْ قَالَ لَهُمْ أَخُوهُمْ لُوطٌ أَلَا تَتَّقُونَ ﴿١٦١﴾

**၁၆၁။** အကြင်အခါဝယ် ၎င်းတို့အား၊ ၎င်းတို့၏နောင်တော်'လူတ်'က ပြောကြားခဲ့လေ၏။ အသင်တို့သည် (အလ္လာဟ်အရှင်မြတ်အား) မကြောက်ရွံ့ကြလေသလော။

إِنِّي لَكُمْ رَسُولٌ أَمِينٌ ﴿١٦٢﴾

**၁၆၂။** ကေန်မလွဲ ငါသည် အသင်တို့အဖို့ ယုံကြည်စိတ်ချအပ်သော ရစူလ်တမန်တော်တစ်ပါးပင် ဖြစ်ပေသည်။

فَاتَّقُوا اللَّهَ وَأَطِيعُونِ ﴿١٦٣﴾

**၁၆၃။** သို့ဖြစ်ပေရာ အသင်တို့သည် အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ကြလေကုန်။ ထိုမှတပါး အသင်တို့သည် ငါ၏အမိန့်ကို လိုက်နာကြလေကုန်။

وَمَا أَسْأَلُكُمْ عَلَيْهِ مِنْ أَجْرٍ إِنْ أَجْرِيَ إِلَّا عَلَىٰ رَبِّ الْعَالَمِينَ ﴿١٦٤﴾

**၁၆၄။** စင်စစ် ငါသည်အသင်တို့ထံ ဤ(အမိန့်တော်ပို့ဆောင်ခြင်း)နှင့်စပ်လျဉ်း၍၊ အကျိုး တစ်စုံတစ်ရာကိုမျှ တောင်းဆိုသည် မဟုတ်ပေ။ ငါ့အား အကျိုးပေးရန်တာဝန်မှာ စကြာဝဠာခပ်သိမ်းတို့ကို မွေးမြူဖန်ဆင်းတော်မူသော အရှင်မြတ်အပေါ်၌သာ ရှိပေသတည်း။

---

(၁) တမန်တော်လူတ်နှင့် ၎င်း၏အမျိုးသားများအကြောင်း ကုရ်အာန်ကျမ်းမြတ်တွင် အကြိမ်ကြိမ်ပါရှိခဲ့ပေပြီ။ ကြည့်-ကုရ်အာန်(၇း၈၀-၈၄။ ၁၁း၇၇-၈၃)။

أَتَأْتُونَ الذُّكْرَانَ مِنَ الْعَالَمِينَ ﴿١٦٥﴾

၁၆၅။ အသင်တို့သည် ကမ္ဘာသူကမ္ဘာသားတို့အနက် ယောကျာ်းများထံ လာရောက်(၍ ကာမဂုဏ် ခံစား) ကြလေသလော။

وَتَذَرُونَ مَا خَلَقَ لَكُمْ رَبُّكُمْ مِنْ أَزْوَاجِكُمْ ۚ بَلْ أَنْتُمْ قَوْمٌ عَادُونَ ﴿١٦٦﴾

၁၆၆။ သို့ရာတွင် အသင်တို့သည် မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်က မိမိတို့အဖို့ ဖန်ဆင်းထားတော်မူသော ဇနီး မိန်းမတို့ကိုမူ စွန့်ထား ကြလေသလော။ စင်စစ်မှာမူကား အသင်တို့သည် စည်းကမ်းကျူးလွန် ဖောက်ဖျက်သော အမျိုးသားများ ပင် ဖြစ်ကြကုန်၏။

قَالُوا لَئِنْ لَمْ تَنْتَهِ يَا لُوطُ لَتَكُونَنَّ مِنَ الْمُخْرَجِينَ ﴿١٦٧﴾

၁၆၇။ ထိုအမျိုးသားတို့က 'အို-လူတ်'၊ အကယ်၍ အသင်သည် (မိမိ ဆုံးမသြဝါဒပေးခြင်းမှ) မရပ်တန့် ပါလျှင် ဧကန်မလွဲ အသင်သည် (တိုင်းပြည်မှ) နှင်ထုတ်ခြင်းခံရသူ တစ်ဦးပင် ဖြစ်ချေလိမ့်မည်ဟု ဆိုခဲ့ကြကုန်၏။

قَالَ إِنِّي لِعَمَلِكُمْ مِنَ الْقَالِينَ ﴿١٦٨﴾

၁၆၈။ ထို'လူတ်'က(အချင်းတို့၊) ဧကန်အမှန်ငါသည် အသင်တို့၏ အကျင့်အမူကို လွန်စွာစက်ဆုပ်သူ တစ်ဦးပင် ဖြစ်သည်ဟု ပြောကြားခဲ့၏။

رَبِّ نَجِّنِي وَأَهْلِي مِمَّا يَعْمَلُونَ ﴿١٦٩﴾

၁၆၉။ (ထို့နောက် လူတ်က) အို-ကျွန်တော်မျိုးအား ဖန်ဆင်းမွေးမြူတော်မူသောအရှင်၊ အရှင်မြတ်သည် ကျွန်တော်မျိုးအား လည်းကောင်း၊ ကျွန်တော်မျိုး၏ အိမ်သူအိမ်သားတို့အား လည်းကောင်း၊ (နောက်လိုက် ငယ်သားတို့အားလည်းကောင်း၊) ထိုအမျိုးသားတို့ ကျင့်မူလျက် ရှိကြကုန်သော (ပြစ်မှုဒုစရိုက်၏ ပြစ်ဒဏ်မှ) ကင်းလွတ်စေတော်မူပါ (ဟု လျှောက်ထား ခဲ့၏)။

فَنَجَّيْنٰهُ وَ اَهْلَهٗۤ اَجْمَعِيْنَ ﴿١٧٠﴾

၁၇၀။ သို့ဖြစ်ပေရာ ငါအရှင်မြတ်သည် ထို 'လူတ်' နှင့်တကွ ၎င်း၏အိမ်သူအိမ်သား တပည့်သား အားလုံး ကိုပင် ကယ်တင်တော်မူခဲ့၏။

اِلَّا عَجُوْزًا فِي الْغٰبِرِيْنَ ﴿١٧١﴾

၁၇၁။ သို့ရာတွင်အမယ်အိုတစ်ဦးမှာမူကား နောက်၌ ကျန်ရစ်ခဲ့သူတို့တွင် ကျန်ရစ်ခဲ့လေ၏။

ثُمَّ دَمَّرْنَا الْاٰخَرِيْنَ ﴿١٧٢﴾

၁၇၂။ ထို့နောက်ငါအရှင်မြတ်သည် ကျန်လူအားလုံး တို့ကို ဖျက်ဆီးတော်မူခဲ့၏။

وَاَمْطَرْنَا عَلَيْهِمْ مَّطَرًا ۚ فَسَآءَ مَطَرُ الْمُنْذَرِيْنَ ﴿١٧٣﴾

၁၇၃။ ထို့ပြင် ငါအရှင်မြတ်သည် ၎င်းတို့အပေါ်၌ မိုးတစ်မျိုး(ခဲမိုး)ကို ရွာသွန်းစေတော်မူခဲ့၏။ စင်စစ် သတိပေး နှိုးဆော်ခြင်းခံကြရသူတို့ (အပေါ်၌ ရွာသွန်း ခဲ့သော)မိုးမှာ အဘယ်မျှ ဆိုးရွားလှဘိသနည်း။

اِنَّ فِيْ ذٰلِكَ لَاٰيَةً ؕ وَمَا كَانَ اَكْثَرُهُمْ مُّؤْمِنِيْنَ ﴿١٧٤﴾

၁၇၄။ ကေန်စင်စစ် ဤသည့်(ဖြစ်ရပ်)၌ (ကြီးကျယ် လှစွာသော) သင်ခန်းစာသည် ရှိပေ၏။ သို့ရာတွင် ၎င်းတို့အနက် (မက္ကာမြို့သား ကာဖိရ်များအနက်) အများဆုံးသော သူတို့မှာမူကား သက်ဝင်ယုံကြည် ကြမည့်သူများ မဟုတ်ကြချေ။

وَاِنَّ رَبَّكَ لَهُوَ الْعَزِيْزُ الرَّحِيْمُ ﴿١٧٥﴾

၁၇၅။ စင်စစ်ကေန် အသင့်အားဖန်ဆင်းမွေးမြူတော် မူသောအရှင်မြတ်သည်ပင်လျှင် အလွန်တရာ လွှမ်းမိုး တော်မူသော၊ အလွန်တရာ သနားကရုဏာပြုတော် မူသောအရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

كَذَّبَ اَصْحٰبُ لْئَيْكَةِ الْمُرْسَلِيْنَ ﴿١٧٦﴾

၁၇၆။ တောအုပ်၌ နေထိုင်ကြကုန်သော အမျိုးသား တို့သည်လည်း ရစူလ်တမန်တော်တို့အား မဟုတ် မမှန်ဟူ၍ စွပ်စွဲ ငြင်းပယ်ခဲ့ကြကုန်၏။

اِذْ قَالَ لَهُمْ شُعَيْبٌ اَلَا تَتَّقُوْنَ ﴿١٧٧﴾

၁၇၇။ အကြင်အခါဝယ် ၎င်းတို့အား 'ရှုအိုက်ဗ်'က ပြောကြားခဲ့၏။ အသင်တို့သည် အလ္လာဟ်အရှင်မြတ် အား မကြောက်ရွံ့ ကြလေသလော။

إِنِّي لَكُمْ رَسُولٌ أَمِينٌ ﴿١٧٨﴾

၁၇၈။ ဧကန်စင်စစ်ငါသည် အသင်တို့အဖို့ ယုံကြည်စိတ်ချအပ်သော ရစူလ်တမန်တော်တစ်ပါးပင်ဖြစ်၏။

فَاتَّقُوا اللَّهَ وَأَطِيعُونِ ﴿١٧٩﴾

၁၇၉။ သို့ဖြစ်ပေရာ အသင်တို့သည် အလ္လာဟ် အရှင်မြတ်အား ကြောက်ရွံ့ကြလေကုန်။ ၎င်းပြင် အသင်တို့သည် ငါ၏အမိန့်ကို လိုက်နာကြလေကုန်။

وَمَا أَسْأَلُكُمْ عَلَيْهِ مِنْ أَجْرٍ ۖ إِنْ أَجْرِيَ إِلَّا عَلَىٰ رَبِّ الْعَالَمِينَ ﴿١٨٠﴾

၁၈၀။ စင်စစ် ငါသည် ဤ(အမိန့်တော် ပို့ဆောင်ခြင်း)နှင့်စပ်လျဉ်း၍ အသင်တို့ထံ မည်သည့်အကျိုးတစ်စုံတစ်ရာကိုမျှ တောင်းဆိုသည် မဟုတ်ပေ။ ငါ့အား အကျိုးပေးရန် တာဝန်မှာ စကြာဝဠာခပ်သိမ်းတို့ကို ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၏ တာဝန်ပင် ဖြစ်ပေသတည်း။

أَوْفُوا الْكَيْلَ وَلَا تَكُونُوا مِنَ الْمُخْسِرِينَ ﴿١٨١﴾

၁၈၁။ အသင်တို့သည် (ခွက်၊စလယ်၊တင်းတောင်း၊ စသော) အခြင်အတွယ်ကို အပြည့်(ခြင်၍) ပေးကြလေကုန်။ ၎င်းပြင် အသင်တို့သည် ဆုံးရှုံးအောင် ပြုလုပ်သူများ မဖြစ်ကြကုန်လင့်။

وَزِنُوا بِالْقِسْطَاسِ الْمُسْتَقِيمِ ﴿١٨٢﴾

၁၈၂။ ထို့ပြင် အသင်တို့သည် မှန်ကန်သော ရာဇူချိန်ခွင်ဖြင့် ချိန်တွယ်ကြလေကုန်။

وَلَا تَبْخَسُوا النَّاسَ أَشْيَاءَهُمْ وَلَا تَعْثَوْا فِي الْأَرْضِ مُفْسِدِينَ ﴿١٨٣﴾

၁၈၃။ ၎င်းပြင် အသင်တို့သည် လူတို့အား ၎င်းတို့၏ ဝတ္ထုပစ္စည်းများကို လျှော့၍ မပေးကြကုန်လင့်။ ထိုမှတပါး အသင်တို့သည် တိုင်းပြည်တွင် ဖျက်ဆီးသူများအဖြစ် သွားလာလှုပ်ရှား သောင်းကျန်းခြင်းကို မပြုကြကုန်လင့်။

وَاتَّقُوا الَّذِي خَلَقَكُمْ وَالْجِبِلَّةَ الْأَوَّلِينَ ﴿١٨٤﴾

၁၈၄။ ထို့ပြင် အသင်တို့သည် မိမိတို့အားလည်း ကောင်း၊ရှေးဟောင်းအဖန်ဆင်းခံတို့အားလည်းကောင်း၊ ဖန်ဆင်းတော်မူသောအရှင်မြတ်အားကြောက်ရွံ့ကြလေကုန်

قَالُوٓا إِنَّمَآ أَنتَ مِنَ
ٱلْمُسَحَّرِينَ ۝١٨٥

**၁၈၅။** ထိုအမျိုးသားတို့ကပြောဆိုခဲ့ကြကုန်၏။ (အို-ရှုအိုက်ဗ်၊) အသင်သည် ပြင်းထန်စွာ စုန်းပြုစားခြင်း ခံရသူတစ်ဦးပင် ဖြစ်၏။

وَمَآ أَنتَ إِلَّا بَشَرٌ مِّثْلُنَا
وَإِن نَّظُنُّكَ لَمِنَ ٱلْكَٰذِبِينَ ۝١٨٦

**၁၈၆။** စင်စစ် အသင်သည် ကျွန်ုပ်တို့ကဲ့သို့ပင် လူသားတစ်ဦးမှအပ အခြားမဟုတ်ပြီ။ ၎င်းပြင် ဧကန် စင်စစ် ကျွန်ုပ်တို့သည် အသင့်အား မုသာဝါဒီ တစ်ဦးပင်ဖြစ်သည်ဟု ထင်မှတ်ကြကုန်၏။

فَأَسْقِطْ عَلَيْنَا كِسَفًا مِّنَ ٱلسَّمَآءِ
إِن كُنتَ مِنَ ٱلصَّٰدِقِينَ ۝١٨٧

**၁၈၇။** သို့ဖြစ်ပေရာ အသင်သည် သစ္စာဝါဒီတို့တွင် အပါအဝင်ဖြစ်မူ ကျွန်ုပ်တို့အပေါ်၌ မိုးကောင်းကင်၏ အစိတ်အပိုင်းတစ်ခုခု ကျလာအောင် သင်ပြုလုပ်ပါလေ။

قَالَ رَبِّىٓ أَعْلَمُ بِمَا تَعْمَلُونَ ۝١٨٨

**၁၈၈။** ထိုရှုအိုက်ဗ်က ငါ့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်သည် အသင်တို့ ပြုမူကြသည်ကို ကောင်းစွာ သိရှိတော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူကြောင်း ပြောကြားခဲ့၏။

فَكَذَّبُوهُ فَأَخَذَهُمْ عَذَابُ يَوْمِ
ٱلظُّلَّةِ ۚ إِنَّهُۥ كَانَ عَذَابَ
يَوْمٍ عَظِيمٍ ۝١٨٩

**၁၈၉။** ၎င်းနောက် ထိုအမျိုးသားတို့သည် ထိုရှုအိုက်ဗ်အား မဟုတ်မမှန်ဟူ၍ စွပ်စွဲငြင်းပယ်ခဲ့ကြလေရာ တိမ်များကျလာသောနေ့၏ ပြစ်ဒဏ်သည် ၎င်းတို့အား ဖမ်းဆီးကွပ်မျက်ခဲ့၏။ ဧကန်မလွဲ ယင်းပြစ်ဒဏ်သည် *ကြီးကျယ်သောနေ့၏ ပြစ်ဒဏ်ပင်ဖြစ်ခဲ့၏။* [၁]

---

(၁) အလ္လာဟ်အရှင်မြတ်သည် 'အဆ္ဟာဗုလ် အိုင်ကဟ်'အား နောက်ဆုံးတွင် သွန်သင်ဆုံးမ၍ မရသည့်အဆုံး၌ ကွပ်မျက်တော်မူခဲ့လေသည်။ ကွပ်မျက်တော်မူပုံမှာ ပထမသော် အပူရှိန်ပြင်းလာခဲ့၏။ ထို့နောက် မိုးတိမ် တက်လာခဲ့၏။ အဆ္ဟာဗုလ်အိုင်ကဟ်သည် အအေးဓာတ် ရလိုကြသည့်အတွက် မိုးတိမ်အောက်သို့ လာရောက် စုရုံးခဲ့ကြ၏။ အဆိုပါမိုးတိမ်သည် မိုးရေ ရွာသွန်းမချဘဲ မီးမိုးရွာသွန်းချခဲ့၏။ အောက်မှ မြေငလျင်လှုပ်လာခဲ့၏။ အလွန်ကြောက်မက်ဖွယ် ကောင်းသော အသံကြီးလည်း ထွက်ပေါ်မြည်ဟည်းလာခဲ့၏။ ဤသို့ဖြင့် 'အဆ္ဟာဗုလ် အိုင်ကဟ်'သည် လောင်ကျွမ်း သေကျေပျက်စီးသွားခဲ့ ကြလေသည်။ကြည့်- မာဂျိဒီ။ ထာနဝီ။

إِنَّ فِي ذَٰلِكَ لَآيَةً ۖ وَمَا كَانَ أَكْثَرُهُم مُّؤْمِنِينَ ﴿١٩٠﴾

၁၉၀။ ဧကန်စင်စစ် ဤသည့်ဖြစ်ရပ်၌ (ကြီးကျယ်စွာသော) သင်ခန်းစာတစ်ရပ်သည် ရှိခဲ့၏။ သို့ရာတွင် ၎င်းတို့အနက် (မက္ကာမြို့သား ကာဖိရ်များအနက်) အများဆုံးသောသူတို့မှာမူကား သက်ဝင်ယုံကြည်မည့်သူများ မဟုတ်ကြပေ။

وَإِنَّ رَبَّكَ لَهُوَ الْعَزِيزُ الرَّحِيمُ ﴿١٩١﴾

၁၉၁။ စင်စစ်သော်ကား အသင့်အား ဖန်ဆင်းမွေးမြူသော အရှင်မြတ်သည် အလွန်တရာ လွှမ်းမိုးတော်မူသော၊ အလွန်တရာ ကရုဏာပြုတော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

وَإِنَّهُ لَتَنزِيلُ رَبِّ الْعَالَمِينَ ﴿١٩٢﴾

၁၉၂။ ၎င်းပြင် မလွဲဧကန် ဤ(ကုရ်အာန်ကျမ်းတော်မြတ်)သည် စကြာဝဠာခပ်သိမ်းတို့ကို ဖန်ဆင်းမွေးမြူတော်မူသည့် *အရှင်ချပေးတော်မူသော (ကျမ်းဂန်ပင်) ဖြစ်ချေသည်။* [၁]

نَزَلَ بِهِ الرُّوحُ الْأَمِينُ ﴿١٩٣﴾

၁၉၃။ 'အရ်ရူဟုလ်အမီန်' (ယုံကြည်စိတ်ချအပ်သော ဝိညာဉ်တော်)ကောင်းကင်တမန်ဂျစ်ဗ်ရီလ်သည် ယင်း(ကုရ်အာန်ကျမ်းတော်မြတ်)ကို ယူဆောင်ချပေးခဲ့လေသည်။

عَلَىٰ قَلْبِكَ لِتَكُونَ مِنَ الْمُنذِرِينَ ﴿١٩٤﴾

၁၉၄။ အသင်၏ စိတ်နှလုံးပေါ်၌ အသင်သည် သတိပေးနှိုးဆော်သူတို့တွင်အပါအဝင် ဖြစ်အံ့သောငှာ။

---

(၁) **ကုရ်အာန်ကျမ်းမြတ်။**

ဤကဏ္ဍ၏အစတွင် ကုရ်အာန်ကျမ်းမြတ်အကြောင်း၊ ကုရ်အာန်ကျမ်းမြတ်ကို မဟုတ်မမှန် ဟူ၍ စွပ်စွဲ ပြောဆိုသူများအား သတိပေးထားတော်မူသည့် အကြောင်း ပါရှိခဲ့၏။ ထိုသည့်နောက်ပိုင်းတွင် စပ်ကြား၌ အမှန်တရားကို သွေဖည်ငြင်းဆန်ခဲ့ကြသော အချို့အမျိုးသားတို့၏ အကြောင်းများ ပါရှိခဲ့၏။ ယခု ဤမှတစ်ဖန် ကုရ်အာန်ကျမ်းမြတ်၏ အကြောင်းကိုပင် ပြန်လည် မိန့်ကြားထားတော်မူသည်။

ကုရ်အာန်ကျမ်းမြတ်သည် အလွန်ထူးကဲမြင့်မြတ်သော၊ မင်္ဂလာအပေါင်းနှင့် ပြည့်စုံသော၊ အလွန်တန်ခိုးကြီးမားသော ကျမ်းဂန်တစ်ဆူဖြစ်၏။ ထိုသည့်ကျမ်းမြတ်ကို စကြာဝဠာ အဝှန်းကို စတင်ဖန်ဆင်းမွေးမြူတော်မူသော အလ္လာဟ်အရှင်မြတ်သည် ထုတ်ပြန်ချမှတ်တော်မူခဲ့၏။

بِلِسَانٍ عَرَبِيٍّ مُّبِينٍ ﴿١٩٥﴾

၁၉၅။ ရှင်းလင်းသော အရဗီဘာသာဖြင့်။

وَإِنَّهُ لَفِي زُبُرِ الْأَوَّلِينَ ﴿١٩٦﴾

၁၉၆။ ၎င်းပြင် ဧကန်အမှန် ယင်း(ကုရ်အာန်ကျမ်းတော်မြတ်၏အကြောင်း)မှာ ရှေးလူဟောင်းတို့၏ ကျမ်းဂန်များ၌(လည်း) ပါရှိ၏။ ၁

أَوَلَمْ يَكُن لَّهُمْ آيَةً أَن يَعْلَمَهُ عُلَمَاءُ بَنِي إِسْرَائِيلَ ﴿١٩٧﴾

၁၉၇။ အိစ်ရာအီလီအမျိုးသားတို့အနက်မှ ပညာရှင်များ ယင်း(ကုရ်အာန်ကျမ်းတော်မြတ်)ကို သိရှိကြခြင်းမှာ ၎င်း(ကုရိုက်ရှ်မျိုးနွယ်ဝင်)တို့အဖို့ (လုံလောက်သော) သက်သေသာဓက မဖြစ်ခဲ့လေသလော။

وَلَوْ نَزَّلْنَاهُ عَلَىٰ بَعْضِ الْأَعْجَمِينَ ﴿١٩٨﴾

၁၉၈။ စင်စစ် အကယ်တန္တု ငါအရှင်မြတ်သည် ယင်း (ကုရ်အာန်ကျမ်းတော်မြတ်)ကို အရဗ်အမျိုးသားမဟုတ်သူ တစ်ဦးတစ်ယောက်၏ အပေါ်၌ ချပေးခဲ့တော်မူခဲ့အံ့။

فَقَرَأَهُ عَلَيْهِم مَّا كَانُوا بِهِ مُؤْمِنِينَ ﴿١٩٩﴾

၁၉၉။ တစ်ဖန် ထိုသူသည် ၎င်း(ကုရိုက်ရှ် မျိုးနွယ်ဝင်)တို့ ရှေ့ဝယ် ထို(ကုရ်အာန်ကျမ်းတော်မြတ်)ကို ဖတ်ကြားခဲ့အံ့။ သို့ပင်တစေလည်း ၎င်းတို့သည် ယင်း(ကုရ်အာန်ကျမ်းတော်မြတ်)ကို ယုံကြည်ကြမည့်သူများ မဟုတ်ပေတကား။ ၂

---

(၁) ကုရ်အာန်ကျမ်းမြတ် အကြောင်းနှင့် ယင်းကျမ်းမြတ် ထုတ်ပြန်ပို့ချတော်မူခြင်း ခံခဲ့ရသော တမန်တော်မြတ်၏ အကြောင်းများသည် အတိတ်ခေတ် ကောင်းကင်ကျကျမ်းများတွင် ပါရှိခဲ့၏။

အတိတ်ခေတ်များတွင် ပွင့်လေကြကုန်သော တမန်တော်များကလည်း ကုရ်အာန်ကျမ်းမြတ်နှင့် တမန်တော်မြတ်၏အကြောင်းကို အသီးသီး ကြိုတင်၍ ဗျာဒိတ်စကား ပြောကြားသွားခဲ့ကြ၏။ ယင်းသည့် ဗျာဒိတ်စကားများကို အတိတ်ခေတ် ကောင်းကင်ကျ ကျမ်းဂန်များအနက် ကပြောင်းကပြန်၊ မှောက်လှန်၊ ထုတ်ပယ်၊ ဖြည့်စွက်ထားသည့် တည်ဆဲ အချို့ကျမ်းများတွင်ပင် ယခုထက်တိုင် တွေ့ရှိရပေသည်။

ဤအာယတ်တော်၏ အနက်သဘောမှာ တနည်း ဤသို့လည်း ဖြစ်နိုင်၏။ ကုရ်အာန်ကျမ်းမြတ်လာ တရားတော်များအနက် များစွာသော တရားတော်များသည် အကျဉ်းအားဖြင့်သော် လည်းကောင်း၊ အကျယ်အားဖြင့်သော် လည်းကောင်း၊ အတိတ်ခေတ် ကောင်းကင်ကျကျမ်းဂန်များတွင် ပါရှိခဲ့၏။ အထူးသဖြင့် 'တောင်ဟီးဒ်'၊ 'ရိစာလတ်'၊ 'ကိယာမတ်'၊ ကောင်းကျိုး ဆိုးကျိုးခံစံရမည့် အကြောင်းများသည် ကောင်းကင်ကျ➢➢

كَذٰلِكَ سَلَكْنٰهُ فِىْ قُلُوْبِ الْمُجْرِمِيْنَ ﴿٢٠٠﴾

لَا يُؤْمِنُوْنَ بِهٖ حَتّٰى يَرَوُا الْعَذَابَ الْاَلِيْمَ ﴿٢٠١﴾

၂၀၀။ ငါအရှင်မြတ်သည် ဤနည်းအတိုင်းပင် ပြစ်မှုကျူးလွန်သူတို့၏ စိတ်တွင်းဝယ် ယင်းငြင်းပယ်မှုကို ထည့်သွင်းတော်မူခဲ့၏။ ၁

၂၀၁။ ၎င်းတို့သည် ပြင်းပြနာကြင်ဖွယ်ဖြစ်သော ပြစ်ဒဏ်ကို မမြင်ကြရလေသမျှကာလပတ်လုံး ယင်း(ကုရ်အာန်ကျမ်းတော်မြတ်)ကို ယုံကြည်ကြမည်မဟုတ်ပေ။

➤➤ ကျမ်းဂန်တိုင်းတွင် ပါရှိခဲ့၏။ ပွင့်လေသမျှသော တမန်တော်များကလည်း ဤသည့်အကြောင်းများကို တညီတညွတ်တည်း ဟောကြားခဲ့ကြ၏။ ဤအကြောင်းနှင့်စပ်လျဉ်း၍ ကုရ်အာန်ကျမ်းမြတ် (၇:၁၅၇)၊ အောက်ခြေအမှတ်တွင် အကျယ်ရေးသားခဲ့ပေပြီ။

(၂) တမန်တော်မြတ်သည် အရဗ်မျိုးနွယ်ဝင်ဖြစ်သည်။ ကုရ်အာန်ကျမ်းမြတ်သည်လည်း အရဗီစာပေဖြင့် ကျရောက်လာခဲ့သည်။ ဤသည်ကိုကြည့်၍ မက္ကာမြို့သား ကာဖိရ်များက ကုရ်အာန်သည်(တမန်တော်မြတ်) မှဟုမှတ် မိမိကိုယ်တိုင် ဖန်တီးပြုလုပ်ထားသော ကျမ်းဖြစ်သည်ဟု ဆိုကောင်းဆိုခဲ့ကြပေမည်။

အမှန်မှာ ကုရ်အာန်ကျမ်းမြတ်သည် အနက်အဓိပ္ပာယ်ပြည့်ဝမှု၊ ကျိုးကြောင်းခိုင်လုံမှု၊ မှန်ကန်မှု၊ စာပေဂုဏ်မြောက်မှု စသည်တို့တွင် အတိုင်းမသိ အထွတ်အထိပ်သို့ ရောက်လျက်ရှိပေရာ၊ လူသားနှင့် 'ဂျင်န်'သတ္တဝါအားလုံး စုပေါင်း၍ပင် ကုရ်အာန်ကျမ်းမြတ် တစ်စောင်လုံးကို မဆိုထားနှင့်၊ တစ်စိတ်တစ်ဒေသကိုပင် မပြုစွမ်းနိုင်ကြပေ။ သို့တစေလည်း တမင်အပြစ်ပြောဆိုလိုသူအဖို့မှာ၊ အဘယ်မျှ မှန်ကန်ခိုင်လုံ ထင်ရှားသော အထောက်အထား တင်ပြငြားလည်း 'ကျားကျား မီးယပ်'ဆိုသကဲ့သို့ အချည်းနှီးသာ ဖြစ်ချေမည်။

မက္ကာမြို့သား ကာဖိရ်များသည် အဘယ်မျှ စိတ်ဓာတ်ခဲယဉ်းခဲ့ကြသည်။ အဘယ်မျှ မရှုဆိတ်ရှိခဲ့ကြသည်။ အဘယ်မျှ မိုက်မဲခဲ့ကြသည်ဆိုသော်၊ အကယ်တန္တု အလ္လာဟ်အရှင်မြတ်သည် ကုရ်အာန်ကျမ်းမြတ်ကို အရဗီစာပေ ကောင်းစွာမတတ်ကျွမ်းသော ပုဂ္ဂိုလ်တစ်ဦး၊ သို့မဟုတ် အရဗ်အမျိုးသား မဟုတ်သော၊ အရဗီစကား တစ်လုံးတစ်ပါဒမျှ မတတ်သော ပုဂ္ဂိုလ်တစ်ဦးအပေါ်သို့ ချပေးတော်မူခဲ့ပါသော်၊ ထိုပုဂ္ဂိုလ်ကလည်း ကုရ်အာန်ကျမ်းမြတ်ကို ၎င်းတို့ရှေ့ဝယ် အံ့ဖွယ်သရဲ စနစ်တကျ မှန်ကန်တိကျစွာ ဖတ်ကြားပြခဲ့သည်ရှိသော်၊ သို့ပင်တစေလည်း ၎င်းတို့သည် ကုရ်အာန်ကို ယုံကြည်ကြမည်မဟုတ်ပေ။ သို့လော သို့လော တွေးတောကာ တနည်းတဖုံ လုပ်ကြံပြောဆိုကြဦးမည်ပင်။

(၁) အချို့သူများသည် အမြဲတစေ ဒုစရိုက်မှုများကို ကျူးလွန်လေ့ရှိကြ၏။ မိမိတို့၏ စွမ်းရည်သတ္တိများကို သွေဖည်ငြင်းဆန်မှု၊ ပုန်ကန်သောင်းကျန်းမှု၊ ပါပညစ်ကျူ မကောင်းမှုအစုစုတွင်သာ အသုံးပြုလေ့ ရှိကြ၏။ ပြစ်မှုကျူးလွန်ခြင်းကိုပင် မိမိတို့၏ဝသီ၊ မိမိတို့၏အလေ့အထ ပြုလုပ်ထားကြ၏။

ထိုရွေ့ထိုမျှ ဆိုးသွမ်းမိုက်မဲလာကြသည့်အခါ၊ အလ္လာဟ်အရှင်မြတ်သည် မိမိ၏ စွန္နတ်တော်နှင့်အညီ ထိုသို့သော သူယုတ်မာတို့အား လျစ်လျူပြုထားတော်မူလိုက်ပြီး၊ ၎င်းတို့၏ စိတ်နှလုံးများတွင် သွေဖည်ငြင်းဆန်ခြင်း၊ ပုန်ကန်သောင်းကျန်းခြင်း၊ ပြစ်မှုကျူးလွန်ခြင်းတို့၏ အကျိုးဆက်ကို ထည့်သွင်း ထားတော်မူလိုက်လေသည်။ ဤအဖွင့်သည် အထက်ဘာသာပြန်ချက် နှင့်အညီ ဖွင့်ဆိုထားခြင်းဖြစ်သည်။

فَيَأْتِيَهُم بَغْتَةً وَهُمْ لَا يَشْعُرُونَ ٢٠٢

၂၀၂။ စင်စစ် ထိုပြစ်ဒဏ်မှာ ၎င်းတို့ထံသို့ ၎င်းတို့ မသိရှိကြခိုက် ရုတ်တရက် ရောက်ရှိ၍လာပေမည်။

فَيَقُولُوا هَلْ نَحْنُ مُنظَرُونَ ٢٠٣

၂၀၃။ ထိုအခါ၎င်းတို့က ကျွန်ုပ်တို့သည် ရွှေ့ဆိုင်းခွင့် ရရှိနိုင်ကြပါမည်လောဟု ဆိုကြပေမည်။

أَفَبِعَذَابِنَا يَسْتَعْجِلُونَ ٢٠٤

၂၀၄။ သို့ပါလျက် ၎င်းတို့က ငါအရှင်မြတ်၏ ပြစ်ဒဏ်ကို အလျင်စလို တောင်းဆိုကြလေသလော။

أَفَرَءَيْتَ إِن مَّتَّعْنَاهُمْ سِنِينَ ٢٠٥

၂၀၅။ အသင်သည်မည်သို့ယူဆပါသနည်း အကယ်၍ ငါ အရှင်မြတ်သည် ၎င်းတို့အား နှစ်ကာလ ကြာရှည်စွာအကျိုးခံစားခွင့်ပေးတော်မူခဲ့ပါလျှင်။

ثُمَّ جَآءَهُم مَّا كَانُوا يُوعَدُونَ ٢٠٦

၂၀၆။ ထို့နောက် ၎င်းတို့ထံ ၎င်းတို့ ချိန်းချက်ခံကြရသော(ပြစ်ဒဏ်)သည် ၎င်းတို့ထံရောက်ရှိလာခဲ့သော်၊

مَآ أَغْنَىٰ عَنْهُم مَّا كَانُوا يُمَتَّعُونَ ٢٠٧

၂၀၇။ ထိုအခါ ၎င်းတို့အဖို့ ၎င်းတို့ အကျိုးခံစားခွင့် ရရှိခဲ့ကြသောအရာများမှာ မည်သို့မျှ အသုံးဝင်မည် မဟုတ်ပေ။

وَمَآ أَهْلَكْنَا مِن قَرْيَةٍ إِلَّا لَهَا مُنذِرُونَ ٢٠٨

၂၀၈။ စင်စစ် ငါအရှင်မြတ် ကွပ်မျက်ဖျက်ဆီးတော်မူခဲ့သော မြို့ရွာတိုင်း၌ သတိပေးနှိုးဆော်သူများ ရောက်ရှိခဲ့ကြသည်သာ ဖြစ်သည်။ ၁

(၁) မတရားပြုမူခြင်းသည် အလ္လာဟ်အရှင်မြတ်နှင့် လားလားမျှ မပတ်သက်ချေ။ အလ္လာဟ်အရှင်မြတ်သည် မဟာကရုဏာတော်ရှင်၊ တရားမျှတတော် မူသောအရှင် ဖြစ်တော်မူသည်။ လူမျိုးတစ်မျိုးအား အကြောင်းမဲ့၊ အပြစ်မဲ့ ကွပ်မျက်တော်မူသည် မဟုတ်။ အလ္လာဟ်အရှင်မြတ်သည် လူမျိုးအသီးသီးထံသို့ သတိပေးနှိုးဆော်ရန်၊ တရားဓမ္မဟောညွှန်ပြရန် တမန်တော်များကို စေလွှတ်တော်မူသည်။ ပြစ်မှုကျူးလွန်ကြသည့်တိုင်အောင် ချက်ချင်းကွပ်မျက်တော်မမူ။ အချိန်ကြာမြင့်စွာ လျစ်လျူပြုထားတော်မူသည်။ သို့ပါလျက် လူမျိုးတစ်မျိုးသည် တရားမရကြဘဲ ဆိုးမိုက်မြဲတိုင်း ဆိုးမိုက်နေကြသည်ရှိသော်၊ ထိုသို့သော လူမျိုးသည် နောက်ဆုံးတွင် ကွပ်မျက်တော်မူခြင်းကို ခံခဲ့ရသည်သာဖြစ်သည်။ ဤကား မည်သူမပြု မိမိမှုပင်။

ذِكْرَىٰ ۛ وَمَا كُنَّا ظَٰلِمِينَ ﴿٢٠٩﴾

၂၀၉။ (ထိုမြို့သူမြို့သားတို့အား) သတိပေး ဆုံးမသြဝါဒပေးရန်။ စင်စစ် ငါအရှင်မြတ်သည် မတရားသဖြင့် နှိပ်စက်ညှဉ်းပန်းတော်မူသော အရှင်မဟုတ်ပေ။

وَمَا تَنَزَّلَتْ بِهِ ٱلشَّيَٰطِينُ ﴿٢١٠﴾

၂၁၀။ စင်စစ် ဤ(ကုရ်အာန်ကျမ်းတော်မြတ်)ကို 'ရှိုင်တွာန်' မိစ္ဆာကောင်များ ဆောင်ကြဉ်းခဲ့ကြသည် မဟုတ်ပေ။

وَمَا يَنۢبَغِي لَهُمْ وَمَا يَسْتَطِيعُونَ ﴿٢١١﴾

၂၁၁။ စင်စစ် ထို(ကုရ်အာန်ကို ယူဆောင်လာခြင်း) ကိစ္စမှာ ၎င်းတို့နှင့် (လားလားမျှ) အပ်စပ်ခြင်းလည်း မရှိပေ။ ၎င်းတို့သည် (ယူဆောင်လာရန်) တတ်စွမ်းနိုင်သည်လည်း မဟုတ်ပေ။ ၁

إِنَّهُمْ عَنِ ٱلسَّمْعِ لَمَعْزُولُونَ ﴿٢١٢﴾

၂၁၂။ ဧကန်အမှန် ထိုရှိုင်တွာန်မိစ္ဆာကောင်များသည် (ဝဟ်ယ် အမိန့်တော်)ကို ကြားနာခြင်းမှ အမှန်ပင် ပယ်ရှားခြင်း ခံခဲ့ကြရပြီး ဖြစ်ကုန်၏။

---

(၁) အချို့ မုရှ်ရစ်က်များက တမန်တော်မြတ်ထံ 'ဂျင်န်' တစ်ဦးဦးလာ၍ ကုရ်အာန်သင်ကြားပေးသည်ဟု ထင်မှတ်ခဲ့ကြသည်။ ဗုခါရီကျမ်းတွင် လာရှိသည်မှာ– တခါသော် တမန်တော်မြတ်ထံ ဝဟီအမိန့်တော် ကျရောက်ရာတွင် အချိန်အနည်းငယ် ကြန့်ကြာသွားသည့်အခါ၊ အမျိုးသမီးတစ်ဦးက တမန်တော်မြတ်အား 'အသင်၏ ရှိုင်တွာန်သည် အသင့်အား စွန့်ပစ်ထားလိုက်ပြီ'ဟု ဆိုခဲ့လေသည်။ ဤသည့် အတွေးအခေါ်များသည် လုံးဝမှားယွင်းကြောင်းကို ဤအာယတ်တော်များတွင် မိန့်ဆိုထားတော်မူသည်။

အမှန်မှာ ကုရ်အာန်ကျမ်းမြတ်သည် အလ္လာဟ်အရှင်မြတ်ထံတော်မှ တမန်တော်မြတ်ထံသို့ ကောင်းကင်တမန် ဂျစ်ဗ်ရီလ် ယူဆောင်လာခဲ့သော ကျမ်းဂန်ဖြစ်သည်။ ရှိုင်တွာန်များ သင်ကြားပြသထားသောကျမ်း အလျှင်းမဟုတ်။ ရှိုင်တွာန်များသည် ကုရ်အာန်ကျမ်းမြတ်နှင့် လားလားမျှ မအပ်စပ်ကြပေ။ ရှိုင်တွာန်များ၏ မူလ ဗီဇမှာ မှောက်မှားခြင်း၊ မှောက်မှားစေခြင်း၊ ဆူပူသောင်းကျန်းခြင်း၊ နှောင့်ယှက် ဖျက်ဆီးခြင်းများသာ ဖြစ်ချေသည်။

ကုရ်အာန်ကျမ်းမြတ်သည် အစမှအဆုံးတိုင် ဖြောင့်မတ်မှန်ကန်သော တရားဓမ္မချည်းသာ ဖြစ်ချေသည်။ ကုရ်အာန်သည် အလင်း၊ ရှိုင်တွာန်သည် အမှောင်၊ ကုရ်အာန်သည် တရား၊ ရှိုင်တွာန်သည် မတရားဖြစ်ပေရာ၊ ကုရ်အာန်နှင့် ရှိုင်တွာန်မှာ ဖြောင့်ဖြောင့်ကြီး ဆန့်ကျင်ကြပေသည်။

فَلَا تَدْعُ مَعَ اللّٰهِ اِلٰهًا اٰخَرَ فَتَكُوْنَ مِنَ الْمُعَذَّبِيْنَ ﴿٢١٣﴾

**၂၁၃။** သို့ဖြစ်ပေရာ (အို-နဗီတမန်တော်၊) အသင်သည်အလ္လာဟ်အရှင်မြတ်နှင့်အတူ မည်သည့်ကိုးကွယ်ရာကိုမျှပင် ဟစ်ခေါ်တသခြင်း မပြုပါလေနှင့်။ သို့ပြုခဲ့ပါလျှင် အသင်သည်လည်း ပြစ်ဒဏ်ပေးခြင်းခံကြရသူတို့တွင် အပါအဝင် ဖြစ်သွားပေမည်။

وَاَنْذِرْ عَشِيْرَتَكَ الْاَقْرَبِيْنَ ﴿٢١٤﴾

**၂၁၄။** ၎င်းပြင် အသင်သည် မိမိနီးစပ်သောဆွေမျိုးသားချင်းကို သတိပေးနှိုးဆော်ပါလေ။ ၁

وَاخْفِضْ جَنَاحَكَ لِمَنِ اتَّبَعَكَ مِنَ الْمُؤْمِنِيْنَ ﴿٢١٥﴾

**၂၁၅။** ထို့ပြင်အသင်သည် မိမိ၏နောက်သို့ လိုက်ကြသော မုအ်မင်န်သက်ဝင်ယုံကြည်သူတို့၏ ရှေ့ဝယ် (၎င်းတို့အား ကရုဏာထား ရှိသောအားဖြင့်) ကျိုးနွံပါလေ။ ၂

فَاِنْ عَصَوْكَ فَقُلْ اِنِّيْ بَرِيْٓءٌ مِّمَّا تَعْمَلُوْنَ ﴿٢١٦﴾

**၂၁၆။** သို့ရာတွင် အကယ်၍ ၎င်းတို့သည် အသင်၏အမိန့်ကို ဖီဆန်ခဲ့ကြလျှင် အသင်သည် (၎င်းတို့အား) ဧကန်မလွဲ ငါသည် အသင်တို့၏ အပြုအမူတို့မှ ကင်းလွတ်သည်ဟု ပြောကြားပါလေ။

---

(၁) သတိပေးရာတွင်၊ တရားဓမ္မဟောကြားရာတွင် သူငါအများ အားလုံးတို့အား ခွဲခြားမှုမရှိ၊ တစ်တန်းတစ်စားတည်း ဟောကြားရမည် ဖြစ်သော်လည်း၊ မိမိနှင့်နီးစပ်သော၊ အမြဲတစေဝင်ထွက် သွားလာနေသောသားချင်း၊ လူရင်းများကိုမူ၊ ဦးစွာပထမ ဟောကြားရပေမည်။ 'ဆန်ရင်း နှာနှာဖွပ်' ဆိုသကဲ့သို့ပင်။

ဤအာယတ်တော် ကျရောက်လာခဲ့သည့်အခါ၊ တမန်တော်မြတ်သည် မိမိ၏သားချင်းများဖြစ်သော ကုရိုက်ရှ် မျိုးနွယ်အား ဖိတ်ခေါ်၍ သတိပေးတော်မူခဲ့လေသည်။ ထို့ပြင်တစ်ဝ မိမိ ဦးရီးအရီး မိမိ၏သမီးကိုလည်း 'အလ္လာဟ်အရှင်မြတ်ထံတော်၌ မိမိတို့၏အရေးကို မိမိတို့ကိုယ်တိုင် တွေးကြ၊ ကျွန်ုပ်သည် အသို့မျှ အကျိုးမပြုနိုင်ပါ' ဟု ဖွင့်ဟပြောကြားတော် မူလိုက်လေသည်။

(၂) ဤအာယတ်တော်တွင် တမန်တော်မြတ်အား အမိန့်နာခံသော မုအ်မင်န်များကို ဖြူနက်မခြား၊ သနားကြင်နာထောက်ထားရမည့် အကြောင်း၊ အမိန့်မနာခံ သွေဖည်ငြင်းဆန်သော သူများနှင့်ပတ်သက်၍မူ ဖြူနက်မခြား မိမိသည်၎င်းတို့နှင့် မည်သို့မျှမပတ်သက်သည်ကို ကြေညာရမည့်အကြောင်း မိန့်ဆိုထားတော်မူသည်။ 'ချစ်ခြင်းသည်လည်း အလ္လာဟ်အရှင်မြတ်အတွက်သာ။ မုန်းခြင်းသည်လည်း အလ္လာဟ်အရှင်မြတ်အတွက်သာ' ဟူသော တမန်တော်မြတ်၏ သြဝါဒတော်၏ သဘောမှာလည်း ဤသည့်သဘောပင်။ ဤကား အစ္စလာမ်၏ မှန်ကန်၊တိကျ၊ပြတ်သားသော မူတစ်ရပ်ပင်။

وَتَوَكَّلْ عَلَى الْعَزِيزِ الرَّحِيمِ ﴿٢١٧﴾

၂၁၇။ ထိုမှတပါးအသင်သည် အလွန်တရာအားအင် ပြည့်စုံတော်မူသော အလွန်တရာ သနားကရုဏာ ပြုတော်မူသော အရှင်မြတ်အပေါ်၌ ယုံပုံ အားထား ပါလေ။

الَّذِي يَرَاكَ حِينَ تَقُومُ ﴿٢١٨﴾

၂၁၈။ အကြင်အရှင်မြတ်သည် အသင် မတ်တတ် ရပ်သောအခါ အသင့်အား မြင်တော်မူ၏။

وَتَقَلُّبَكَ فِي السَّاجِدِينَ ﴿٢١٩﴾

၂၁၉။ ထိုနည်းတူစွာ(ထိုအရှင်မြတ်သည်) 'ဆွလာတ်' ဝတ်ပြုသူတို့တွင် အသင်၏ ပါဝင်နေထိုင် သွားလာမှု ကိုလည်း (မြင်တော်မူ၏)

إِنَّهُ هُوَ السَّمِيعُ الْعَلِيمُ ﴿٢٢٠﴾

၂၂၀။ မလွဲဧကန် ထို အရှင်မြတ်သည်သာလျှင် အလွန်တရာ ကြားတော်မူသော အရှင်၊ အလွန်တရာ သိတော်မူသောအရှင် ဖြစ်တော်မူ၏။

هَلْ أُنَبِّئُكُمْ عَلَىٰ مَنْ تَنَزَّلُ الشَّيَاطِينُ ﴿٢٢١﴾

၂၂၁။ (အို-နဗီတမန်တော်၊ အသင်သည် မက္ကာမြို့ သား မုရှ်ရစ်က်တို့အား ပြောကြားပါလေ။ အချင်းတို့၊) ငါသည် မည်သူ၏အပေါ်၌ ရှိုင်တွာန် မိစ္ဆာကောင်များ ဆင်းသက်၍ လာကြသည်ကို အသင်တို့အား ပြောပြ ရမည်လော။

تَنَزَّلُ عَلَىٰ كُلِّ أَفَّاكٍ أَثِيمٍ ﴿٢٢٢﴾

၂၂၂။ ထို ရှိုင်တွာန် မိစ္ဆာကောင်များမှာ ဒုစရိုက် ကျူးလွန်သောမုသာဝါဒီတိုင်း၏အပေါ်၌ ဆင်းသက်၍ လာကြကုန်၏။

يُلْقُونَ السَّمْعَ وَأَكْثَرُهُمْ كَاذِبُونَ ﴿٢٢٣﴾

၂၂၃။ အကြင်သူတို့သည် (ထိုရှိုင်တွာန်မိစ္ဆာကောင် များဘက်သို့) နားစိုက်၍ နေကြကုန်၏။ စင်စစ် ၎င်းတို့အနက် အများဆုံးသောသူတို့မှာ မုသာဝါဒီ များပင် ဖြစ်ကြကုန်၏။

وَالشُّعَرَآءُ يَتَّبِعُهُمُ الْغَاوٗنَ ﴿٢٢٤﴾

၂၂၄။ သို့ရာတွင် လင်္ကာဆရာတို့မှာမူကား လမ်းလွဲသူတို့သာလျှင် ၎င်းတို့နောက်သို့လိုက်ကြကုန်၏။ ၁

اَلَمۡ تَرَ اَنَّهُمۡ فِیۡ كُلِّ وَادٍ یَّهِیۡمُوۡنَ ﴿٢٢٥﴾

၂၂၅။ ဧကန်အမှန် ၎င်းတို့သည် ချောင်းလျှိုရိုးတိုင်းတွင် ဦးလှည့်ရာ သွားလာလျက်ရှိကြသည်ကို အသင်သည် မမြင်ပါလော။

وَاَنَّهُمۡ یَقُوۡلُوۡنَ مَا لَا یَفۡعَلُوۡنَ ﴿٢٢٦﴾

၂၂၆။ ထိုမှတပါး ၎င်းတို့သည် မိမိတို့ မပြုလုပ်ကြသောကိစ္စကို (ပြုလုပ်ကြသည်ဟု) ပြောဆိုလေ့ရှိကြကုန်၏။

---

(၁) ကာဖိရ်များသည် တမန်တော်မြတ်အား တစ်ခါတစ်ရံ 'ရှာအိရ်'လင်္ကာဆရာ ဟူ၍လည်းကောင်း၊ တစ်ခါတစ်ရံ 'ကာဟင်န်' အနာဂတ်ဟောဆရာ ဟူ၍လည်းကောင်း၊ မဟုတ်မလျား လုပ်ကြံပြောဆိုခဲ့ကြသည်။ တမန်တော်မြတ်သည် အလ္လာဟ်အရှင်မြတ်၏ တမန်တော်သာ ဖြစ်သည်။ လင်္ကာဆရာလည်း မဟုတ်၊ အနာဂတ် ဟောဆရာလည်း မဟုတ်။

အနာဂတ်ဟောဆရာများ၏ စကားများသည် အရမ်းအဆ အတွေးအထင်မျှသာ ဖြစ်သည်။ အမှားချည်းသာ ဖြစ်သည်။

'ကြက်ကန်း ဆန်အိုးတိုး' ဆိုသကဲ့သို့။ တစ်ခွန်းတစ်ပါဒ မှန်သွားခဲ့သည်ရှိသော်လည်း 'အရှုံးဆယ်ခွန်းပြော၊ တစ်ခွန်းမှန်'သည်ထက် ပို၍ မလေးနက်ချေ။

များစွာသော လင်္ကာဆရာများ၏ စကားများသည်လည်း အတွေးအထင်မျှသာ ဖြစ်သည်။ အမှန်တရားနှင့် မည်သို့မျှမပတ်သက်ပေ။ လင်္ကာဆရာများသည် ခေတ္တပရိသတ် စိတ်တက်ကြွအောင် လှုံ့ဆော်မှု တစ်ရပ်သာဖြစ်သည်။

လင်္ကာဆရာများသည် တစ်ဖက်သားအား ချီးမွမ်းလိုသည့်အခါ၊ မိုးအထိ မြှောက်ပင့်ဖွဲ့နွဲ့ သီကုံးစပ်ဆိုရေးသားကြသည်။

တစ်ဖက်သားအား ကဲ့ရဲ့ ပြစ်တင်လိုသည့်အခါ ကမ္ဘာအဝှန်းရှိ အပြစ်များကိုပင် မဟုတ်မမှန် လုပ်ကြံ၍ စပ်ဆိုရေးသားကြသည်။

လင်္ကာဆရာများသည် အမှားကိုအမှန်၊ အမှန်ကိုအမှား၊ မရှိကိုအရှိ၊ အရှိကိုမရှိ၊ ကပြောင်းကပြန် ပြုလုပ်ကြပေသည်။ အတွေး၏ ရေယဉ်ကျောတွင် မျောနေကြပေသည်။ အပြောနှင့်အလုပ် လုံးဝမကိုက်ညီကြပေ။ ဤသည်၎င်းတို့၏ အကြီးဆုံးဂုဏ်ရည်ပင်။

တမန်တော်မြတ်၏ အတွေးအခေါ်များနှင့် သြဝါဒများသည် မှန်ကန်တိကျပြတ်သားသည်။ အဟောနှင့်အကျင့် ညီသည်။ အကျိုးလည်း သက်ရောက်သည်။ တရားလည်း ရစေသည်။ တမန်တော်မြတ်ကြီတင် ဟောကြားတော်မူသည့် စကားများလည်း အမှန်ချည်းသာဖြစ်သည်။ မှားသည်ဟူ၍ အလျှင်းမရှိ။ သို့ဖြစ်ရာ တမန်တော်မြတ်သည် လင်္ကာဆရာ၊ အနာဂတ်ဟောဆရာ အသို့လျှင် ဖြစ်တော်မူနိုင်အံ့နည်း။

ကြည့်-ကုရ်အာန်(၃၆း၆၉။ ၅၂း၂၉။ ၆၉း၄၀-၄၃)။

إِلَّا الَّذِينَ آمَنُوا وَعَمِلُوا الصَّالِحَاتِ وَذَكَرُوا اللَّهَ كَثِيرًا وَانتَصَرُوا مِن بَعْدِ مَا ظُلِمُوا ۗ وَسَيَعْلَمُ الَّذِينَ ظَلَمُوا أَيَّ مُنقَلَبٍ يَنقَلِبُونَ ﴿٢٢٧﴾

၂၂၇။ သို့ရာတွင် (ယင်းလက်ာဆရာများအနက်မှ) အကြင်သူတို့သည် အီမာန် သက်ဝင်ယုံကြည်ခဲ့ကြပြီးနောက် ကောင်းမြတ်သောအကျင့်သီလများကိုလည်း ဆောက်တည်ခဲ့ကြကုန်၏။ အလ္လာဟ်အရှင်မြတ်အားလည်း များစွာ တသ သတိရခဲ့ကြကုန်၏။ ထိုမှတပါး ၎င်းတို့သည် မိမိတို့ မတရားသဖြင့် နှိပ်စက်မှုကို ခံခဲ့ရပြီးနောက်တွင် လက်စားချေခဲ့ကြကုန်၏။ [၁] (ထိုကဲ့သို့သော သူတို့မှာ ဤအမိန့်တော်၌ အကျုံးမဝင်ကြပေ)။ စင်စစ်သော်ကား မတရားသဖြင့် နှိပ်စက်ကြကုန်သောသူတို့သည် မိမိတို့မှာ မည်သည့်နေရာသို့ ပြန်လှည့်ကြမည်ကို မကြာမြင့်မီပင် သိရှိကြကုန်အံ့သတည်း။

---

(၁) လက်ာဆရာများတွင် အချို့လက်ာဆရာများသည် အလ္လာဟ်အရှင်မြတ်အား ယုံကြည်ကြသည်။ ကောင်းမြတ်သော အကျင့်သီလများကို ဆောက်တည်ကြသည်။ အလ္လာဟ်အရှင်မြတ်အား များစွာ အောက်မေ့တသ သတိရကြသည်။ မိမိတို့၏လက်ာများတွင် အလ္လာဟ်အရှင်မြတ်၏ ဂုဏ်တော်များကို အထူးတလည် ထုတ်ဖော်ရေးသားကြသည်။ ကုသိုလ်ကောင်းမှုပွားများရန် လှုံ့ဆော်၍၊ မကောင်းမှုများကို ကဲ့ရဲ့ပြစ်တင်ကြသည်။

# ပရွက်ဆိတ်ကောင်ကဏ္ဍ

سُوْرَةُ النَّمْلِ

ဤကဏ္ဍသည် 'အန္နမလ်'ပရွက်ဆိတ်အကြောင်းပါဝင်သော ကဏ္ဍမည်၏။
မက္ကာမြို့တော်၌ ကျရောက်ခဲ့၏။
ဤကဏ္ဍတွင် (အာယတ်)တော်(၉၃)ပါး၊ (ရကူအ်)အပိုဒ်(၇)ပိုဒ် အသီးသီးပါရှိ၏။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ ○

အလွန်တရာ သနားကြင်နာ ညှာတာတော်မူသော၊ ကြီးမားလှသော ကရုဏာတော်ရှင်ဖြစ်တော်မူသော၊ အလ္လာဟ်အရှင်မြတ်၏ နာမံတော်ဖြင့်အစပြုပါ၏။

طٰسٓ ۚ تِلْكَ اٰيٰتُ الْقُرْاٰنِ وَكِتَابٍ مُّبِيْنٍ ۙ ①

၁။ 'သွာ၊ စီန်' ဤသည်တို့ကား ထင်ရှားသော ကျမ်းဂန် ကုရ်အာန်၏ အာယတ်တော်များပင်။ ၁

هُدًى وَّبُشْرٰى لِلْمُؤْمِنِيْنَ ۙ ②

၂။ 'မုအ်မင်န်' သက်ဝင်ယုံကြည်သူတို့အဖို့ တရား လမ်းညွှန်ရာနှင့် သတင်းကောင်းဖြစ်၏။

الَّذِيْنَ يُقِيْمُوْنَ الصَّلٰوةَ وَيُؤْتُوْنَ الزَّكٰوةَ وَهُمْ بِالْاٰخِرَةِ هُمْ يُوْقِنُوْنَ ③

၃။ အကြင် 'မုအ်မင်န်' သက်ဝင်ယုံကြည်သူတို့သည် ဆွလာတ်ဝတ်ပြုမှုကိုဆောက်တည်ကြသည့်ပြင် ဇကာတ်လည်း ပေးဆောင်ကြကုန်၏။ 'အာခိရတ်' တမလွန်ဘဝကိုလည်း ယုံကြည်ကြကုန်၏။

اِنَّ الَّذِيْنَ لَا يُؤْمِنُوْنَ بِالْاٰخِرَةِ زَيَّنَّا لَهُمْ اَعْمَالَهُمْ فَهُمْ يَعْمَهُوْنَ ۗ ④

၄။ စေန်မလွဲ အာခိရတ် တမလွန်ဘဝကို မယုံကြည်သောသူတို့၏အမြင်တွင် ငါအရှင်မြတ်သည် ၎င်းတို့၏ ပြုမှုချက်များကို လှပတင့်တယ်စေတော်မူခဲ့၏။ သို့ဖြစ်ပေရာ ၎င်းတို့မှာ တဝဲလည်လည် ဖြစ်နေကြကုန်၏။

---

(၁) ဤကဏ္ဍ၏အစတွင် ပါရှိသော အာယတ်တော်များသည် ကုရ်အာန်ကျမ်းမြတ် ဂါဝီကဏ္ဍ၏ အစတွင်ပါရှိသော အာယတ်တော်များနှင့် အနက်သဘောချင်း အထူးပင်တူလှပေသည်။ သို့ဖြစ်ရာ ယင်းအာယတ်တော်များနှင့် သက်ဆိုင်ရာ အဖွင့်များကို ပြန်လည်ရှုအပ်ပေသည်။

أُولَٰئِكَ الَّذِينَ لَهُمْ سُوءُ الْعَذَابِ وَهُمْ فِي الْآخِرَةِ هُمُ الْأَخْسَرُونَ ⑤

၅။ ၎င်းတို့သည်ပင်လျှင် အကြင်သူများ ဖြစ်ကြကုန်၏။ ထိုသူတို့အဖို့ (ဤလောက၌လည်း) အလွန်ဆိုးရွားသော ပြစ်ဒဏ်သည် ရှိပေ၏။ 'အာခိရတ်' နောင်တမလွန်ဘဝတွင်လည်း ၎င်းတို့သည် အလွန်ဆုံးရှုံးသူများပင် ဖြစ်ကြပေမည်။

وَإِنَّكَ لَتُلَقَّى الْقُرْآنَ مِن لَّدُنْ حَكِيمٍ عَلِيمٍ ⑥

၆။ ၎င်းပြင် ဧကန်စင်စစ် အသင်သည် ကုရ်အာန်ကျမ်းတော်မြတ်ကို အလွန်တရာ ဆင်ခြင်တုံတရားနှင့်ပြည့်စုံတော်မူသော၊ အလွန်တရာအသိပညာနှင့်ပြည့်စုံတော်မူသောအရှင်မြတ်ထံတော်မှ ရရှိနေပေသတည်း။

إِذْ قَالَ مُوسَىٰ لِأَهْلِهِ إِنِّي آنَسْتُ نَارًا سَآتِيكُم مِّنْهَا بِخَبَرٍ أَوْ آتِيكُم بِشِهَابٍ قَبَسٍ لَّعَلَّكُمْ تَصْطَلُونَ ⑦

၇။ (ပြန်လည်သတိရရှိပါလေ)။ တစ်ရံရောအခါဝယ် မူစာသည်မိမိအိမ်သူအိမ်သားများအား ပြောကြားခဲ့လေ၏။ ဧကန်စင်စစ်ငါသည် မီးတစ်ခုကို မြင်တွေ့လေပြီ။ ယခုပင် ငါသည် အသင်တို့ထံ ထိုမီးရှိရာမှ သတင်းတစ်စုံတစ်ရာကို ယူခဲ့မည်။ သို့တည်းမဟုတ် ငါသည် အသင်တို့ထံ မီးလှုံနိုင်ကြ အံ့သောငှာ မီးတောက်တစ်ခုကို (ထင်း သို့မဟုတ် အခြား တစ်စုံတစ်ရာဖြင့်)ညှိ၍အသင်တို့ထံဆောင်ကြဉ်းခဲ့ပေမည်၊[1]

فَلَمَّا جَاءَهَا نُودِيَ أَن بُورِكَ مَن فِي النَّارِ وَمَنْ حَوْلَهَا وَسُبْحَانَ اللَّهِ رَبِّ الْعَالَمِينَ ⑧

၈။ ထို့နောက် ထိုမူစာသည် ၎င်းမီးရှိရာသို့ရောက်ရှိခဲ့လေသော်၊ (အို-မူစာ)၊ မီး၌ ရှိသူတို့သည် *လည်းကောင်း။ ထိုမီး၏ ပတ်ဝန်းကျင်၌ ရှိသူတို့သည် လည်းကောင်း၊*[2] ဗရ်ကတ် ကျက်သရေ မင်္ဂလာကို ရရှိကြစေသော်ဝ်။

---

① ဤအာယတ်တော်တွင် တမန်တော်မူစာ မဒ်ယန်မှ အီဂျစ်သို့အပြန် 'တုဝါ'အနီး၊ အလွန်အေးသည့်ညတ၊ မှောင်အတိကျနေသောညဉ့်၌ တွေ့ကြုံခဲ့ရသည့်ဖြစ်အင်ကို ရည်ညွှန်းမိန့်ဆိုထားတော်မူသည်။ ဤအကြောင်း ကုရ်အာန်(၂၀း၉-၂၄)တွင် အကျယ်ပါရှိခဲ့ချေပြီ။

② 'မီး၌ရှိသူ'ဟူသည် ကောင်းကင်တမန်များကို ဆိုလိုသည်။ 'ထိုမီး၏ပတ်ဝန်းကျင်၌ရှိသူ' ဟူသည် တမန်တော်မူစာကို ဆိုလိုသည်။ ကြည့်-မဒါရိက်၊ ထာနဝီ။ အချို့က 'မီး၌ ရှိသူ' (ဝါ) 'မီးရှိရာဌာန၌ ရှိသူ' ➢➢

စင်စစ် စကြာဝဠာခပ်သိမ်းတို့ကို ဖန်ဆင်း မွေးမြူတော်မူသောအလ္လာဟ်အရှင်မြတ်သည် သန့်ရှင်း စင်ကြယ်တော်မူပါပေသည်တကားဟူ၍ အသံပေးခြင်း ကို ခံခဲ့ရလေသည်။

يٰمُوْسٰٓى اِنَّهٗٓ اَنَا اللّٰهُ الْعَزِيْزُ الْحَكِيْمُ ⑨

၉။ အို-မူစာ၊ ငါသည် အလွန်တရာလွှမ်းမိုးတော် မူသော၊ ဆင်ခြင်တုံတရားနှင့် အလွန်တရာပြည့်စုံတော် မူသော ငါအရှင်မြတ်ပင် ဖြစ်တော်မူ၏။

وَاَلْقِ عَصَاكَ ۚ فَلَمَّا رَاٰهَا تَهْتَزُّ كَاَنَّهَا جَآنٌّ وَّلّٰى مُدْبِرًا وَّلَمْ يُعَقِّبْ ۚ يٰمُوْسٰى لَا تَخَفْ ۚ اِنِّيْ لَا يَخَافُ لَدَيَّ الْمُرْسَلُوْنَ ⑩

၁၀။ ၎င်းပြင် အသင်သည် မိမိတောင်ဝှေးကို (မြေကြီးပေါ်သို့)ပစ်ချပါလေ။ ထို့နောက် ထိုမူစာသည် (ယင်းတောင်ဝှေးကို အမိန့်တော်အတိုင်း ပစ်ချခဲ့ရာ) ထိုတောင်ဝှေးမှာ မြွေကဲ့သို့ တွန့်လိမ်လှုပ်ရှားလျက် ရှိသည်ကို တွေ့မြင်သောအခါ နောက်သို့ ပြန်၍ မကြည့်ဘဲ ကျောခိုင်း၍ လှည့်ထွက်သွားခဲ့လေ၏။

(ထိုအခါ အလ္လာဟ်အရှင်မြတ်က မိန့်ကြား တော်မူခဲ့၏၊)အို-မူစာ၊အသင်သည် မကြောက်ပါလေ နှင့်။ စကန်မလွဲ ငါအရှင်မြတ်အထံတော်တွင် ရစူလ် တမန်တော်တို့သည် ကြောက်ရွံ့လေ့မရှိကြချေ။

▶▶ ဟူသည် ကုရ်အာန်(၂၈း၃၀)တွင်ပါရှိသည့် မင်္ဂလာရှိသော တိုင်းပြည်(ဝါ) ဆီးရီယားပြည်ကို ဆိုကြသည်။ ကြည့်- အဖွင့်အညွှန်း။

**မှတ်ချက်။**

တမန်တော်မူစာ တွေ့မြင်ခဲ့သော မီးသည် သာမန်မီးမဟုတ်။ လောကီဆိုင်ရာမီးမဟုတ်။ အလ္လာဟ် အရှင်မြတ်၏ 'တဂျလ္လီ' ရောင်ခြည်တော် ကွန့်မြူးနေတော်မူခဲ့သည့် အံ့မဆုံးသည့် လင်းရောင်ခြည်တစ်မျိုးပင်။ အဆိုပါမီးသည် အလ္လာဟ်အရှင်မြတ် မဟုတ်။ အလ္လာဟ်အရှင်မြတ်သည် နေရာ၊ ဌာန၊ ဒိသာ အရပ်...စသည့် ကန့်သတ်ချက်များနှင့် လုံးဝကင်းစင်တော်မူသည်။

إِلَّا مَن ظَلَمَ ثُمَّ بَدَّلَ حُسْنًا بَعْدَ سُوٓءٍ فَإِنِّى غَفُورٌ رَّحِيمٌ ﴿١١﴾

၁၁။ သို့ရာတွင်မည်သူမဆို မတရားကျူးလွန်ခဲ့လျှင် တစ်ဖန် ထိုသူသည် မကောင်းမှု၏နောက်တွင် ကောင်းမှုကိုပြောင်းလဲ၍ ပြုခဲ့လျှင် မလွဲဧကန် ငါ အရှင်မြတ်သည် အလွန်တရာ ခွင့်လွှတ်တော်မူသော အလွန်တရာသနားကရုဏာပြုတော်မူသော အရှင်မြတ် ပင် ဖြစ်တော်မူ၏။ [၁]

وَأَدْخِلْ يَدَكَ فِى جَيْبِكَ تَخْرُجْ بَيْضَآءَ مِنْ غَيْرِ سُوٓءٍ فِى تِسْعِ ءَايَٰتٍ إِلَىٰ فِرْعَوْنَ وَقَوْمِهِۦٓ إِنَّهُمْ كَانُوا۟ قَوْمًا فَٰسِقِينَ ﴿١٢﴾

၁၂။ ၎င်းပြင် အသင်သည် မိမိလက်ကို မိမိ လက်ကတီးကြားတွင်သွင်းပါလေ။ (ထိုအခါ)ထိုလက် မှာ အပြစ်တစ်စုံတစ်ရာမရှိဘဲ ပကတိ ထွန်းတောက် လျက် ထွက်ပေါ်၍ လာပေမည်။ (ဤသည်) ဖစ်ရ်အောင်န်နှင့်တကွ ၎င်း၏အမျိုးသားတို့နှင့် ယှဉ်ပြိုင်အံ့သောငှာ တန်ခိုးတော်ကိုးပါးတွင် အပါအဝင်ဖြစ်၏။ ဧကန်စင်စစ်၎င်းတို့မှာ စည်းကမ်းဖောက်ဖျက်ကျူးလွန်ကြသောအမျိုးသားများပင် ဖြစ်ကြပေသည်။

فَلَمَّا جَآءَتْهُمْ ءَايَٰتُنَا مُبْصِرَةً قَالُوا۟ هَٰذَا سِحْرٌ مُّبِينٌ ﴿١٣﴾

၁၃။ ထို့နောက် ၎င်းတို့ထံ ငါအရှင်မြတ်၏ ရှင်းလင်းသော တန်ခိုးတော်များ ရောက်ရှိလာခဲ့လေသော်၊ ၎င်းတို့က ဤသည် ထင်ရှားသော ပဥ္စလက် အတတ်ပညာပင် ဖြစ်သည်ဟု ဆိုခဲ့ကြကုန်၏။

وَجَحَدُوا۟ بِهَا وَٱسْتَيْقَنَتْهَآ أَنفُسُهُمْ ظُلْمًا وَعُلُوًّا ۚ فَٱنظُرْ كَيْفَ كَانَ عَٰقِبَةُ

၁၄။ ထိုမှတပါး ၎င်းတို့၏ စိတ်နှလုံးများသည် ထိုတန်ခိုးတော်များကို ယုံကြည်သော်လည်း ထိုသူတို့မှာ မှုကားမတရားသောအားဖြင့်လည်းကောင်း၊ မောက်မာသောအားဖြင့်လည်းကောင်း၊ ယင်းတန်ခိုးတော်များကို ငြင်းပယ်ခဲ့ကြကုန်၏။

(၁) ဤအာယတ်တော်တွင် တစ်ချိန်က မူဆာတော်တဆ တမန်တော်မူစာ၏ လက်ချက်ဖြင့် အီဂျစ်နိုင်ငံရင်းသား တစ်ဦး သေဆုံးသွားခဲ့သဖြင့် တမန်တော်မူစာ စိုးရိမ်နေခဲ့ကြောင်း၊ ယခုမူ တမန်တော်မူစာအား လွတ်ငြိမ်းခွင့်ပေးတော် မူလိုက်ပြီဖြစ်ကြောင်း ရည်ညွှန်းမိန့်ဆိုထားတော်မူသည်။

الْمُفْسِدِينَ ﴿١٤﴾

သို့ဖြစ်ပေရာ ပျက်စီးရာ ပျက်စီး ကြောင်းကို ပြုလုပ်ကြကုန်သောသူတို့၏ နောက်ဆုံးအကျိုးဆက်သည် မည်သို့ဖြစ်ခဲ့သည်ကို အသင်ရှုပါလေ။ [၁]

وَلَقَدْ آتَيْنَا دَاوُودَ وَسُلَيْمَانَ عِلْمًا ۖ وَقَالَا الْحَمْدُ لِلَّهِ الَّذِي فَضَّلَنَا عَلَىٰ كَثِيرٍ مِّنْ عِبَادِهِ الْمُؤْمِنِينَ ﴿١٥﴾

၁၅။ ထိုမှတပါး မလွဲဧကန် ငါအရှင်မြတ်သည် 'ဒါဝူဒ်' အား လည်းကောင်း၊ 'စုလိုင်မာန်' အားလည်းကောင်း၊ (အထူး) အသိပညာတစ်ရပ်ကို ချီးမြှင့်ပေးသနားတော်မူခဲ့၏။ [၂] ထို့ပြင် ထိုဒါဝူဒ်နှင့် စုလိုင်မာန်နှစ်ဦးတို့က 'ကျွန်တော်မျိုးအား မိမိ၏ မြောက်မြားစွာသော မုအ်မင်န်သက်ဝင် ယုံကြည်ကြကုန်သော 'ကျွန်တို့ထက် ထွတ်မြတ်စေတော်မူခဲ့သော အလ္လာဟ်အရှင်မြတ်သည်သာလျှင် ချီးမွမ်း ထောပနာအပေါင်းတို့ကိုခံယူထိုက်တော်မူသည်'ဟု လျှောက်ထားခဲ့ကြကုန်၏။ [၃]

---

(၁) ဖစ်ရ်အောင်န်နှင့်တကွ ၎င်း၏အခြွေအရံများသည် တမန်တော်မူစာမှာ အလ္လာဟ်အရှင်မြတ်၏ တမန်တော်အစစ်အမှန်ဖြစ်ကြောင်း၊ တမန်တော်မူစာ ယူဆောင်ပြသသော တန်ခိုးတော်များမှာလည်း အလ္လာဟ်အရှင်မြတ်၏ တန်ခိုးတော်များဖြစ်ကြောင်းကို စိတ်နှလုံးအတွင်းမှ ကောင်းစွာယုံကြည်ခဲ့ကြပေသည်။ သို့တစေလည်း ၎င်းတို့သည် စိတ်တွင်းမှ အမှန်ကိုသိပါလျက် တမင်သက်သက် တစ်ဖက်သားအား အထင်သေးခြင်း၊ ကျူးကျော်စော်ကားခြင်း၊ မိမိတို့ကိုယ်ကို မိမိတို့ အထင်ကြီးခြင်းများကြောင့် ဖွတ်မိုတ်၍ သွေဖည်ငြင်းဆန်ခဲ့ကြခြင်းဖြစ်ပေသည်။ ထိုသို့ အမှန်တရားကိုသိပါလျက် သွေဖည်ခဲ့ကြသည့်အတွက်ကြောင့်ပင် ၎င်းတို့သည် ပင်လယ်နီတွင် မရှုမလှ သေကျေပျက်စီးသွားခဲ့ကြရပေပြီ။

(၂) တမန်တော်စုလိုင်မာန်သည် တမန်တော်ဒါဝူဒ်၏ သားတော်ဖြစ်သည်။ အလ္လာဟ်အရှင်မြတ်သည် ထိုသားအဘ ၂-ဦးလုံးတို့အား အလွန်ထူးခြားသော အသိပညာကို ချီးမြှင့်တော်မူခဲ့သည်။ ယင်းသည့် အသိပညာတွင် သာသနာရေးဆိုင်ရာအမိန့်၊ ပညတ်တော်များ၊ တရားဥပဒေများ၊ တိုင်းပြည်စီမံအုပ်ချုပ်ပုံဆိုင်ရာ အသိပညာများ၊ အားလုံးအကျုံးဝင်ပေသည်။

(၃) အလ္လာဟ်အရှင်မြတ်သည် တမန်တော်ဒါဝူဒ်နှင့် တမန်တော်စုလိုင်မာန်အား မြောက်မြားစွာသော မုအ်မင်န်များထက် အသာပေးတော်မူခဲ့သည်။ အားလုံးထက်ကား အသာပေးတော်မူခဲ့သည် မဟုတ်ပေ။ တမန်တော်များသည် အချင်းချင်း တစ်ပါးထက်တစ်ပါး တစ်နည်းတစ်ဖုံ သာကြသည်သာ ဖြစ်ကြပေသည်။ ကြည့်-ကုရ်အာန်(၃း၂၅၃)။ ကမ္ဘာအဝှန်းတွင် အဖန်ဆင်းခံ သက်ရှိသက်မဲ့ အရာခပ်သိမ်းတို့ထက် ပိုမို၍ ဂုဏ်အင်ဒြဗ် ချီးမြှင့်တော်မူခြင်းခံရသော ပုဂ္ဂိုလ်မြတ် တစ်ပါးရှိ၏။ ထို ပုဂ္ဂိုလ်မြတ်ကား တမန်တော်မြတ် မုဟမ္မဒ် (ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်) ပင်တည်း။

وَوَرِثَ سُلَيْمٰنُ دَاوٗدَ وَقَالَ
يٰٓاَيُّهَا النَّاسُ عُلِّمْنَا مَنْطِقَ
الطَّيْرِ وَاُوْتِيْنَا مِنْ كُلِّ شَيْءٍ ۭ اِنَّ
هٰذَا لَهُوَ الْفَضْلُ الْمُبِيْنُ ﴿١٦﴾

**၁၆။** ၎င်းပြင် စုလိုင်မာန်သည် ဒါဝူဒ်၏ အရိုက်အရာကို ဆက်ခံခဲ့၏။ ၎င်းပြင် ထိုစုလိုင်မာန်သည် (ဤသို့)ပြောကြားခဲ့၏။ အို-လူအပေါင်းတို့၊ ငါတို့သည် ငှက်သတ္တဝါတို့၏ ဘာသာစကားကို သင်ကြားပေးခြင်း ခံခဲ့ကြရလေသည်။ ထိုမှတပါး ငါတို့သည် (စိုးမိုးအုပ်ချုပ်မှုနှင့်စပ်လျဉ်း၍ လိုအပ်သော) အရာခပ်သိမ်းတို့ကို ချီးမြှင့်ပေးသနားတော်မူခြင်း ခံခဲ့ကြရပေသည်။ ဧကန်စင်စစ် ဤသည်ထင်ရှားလှစွာသော ကျေးဇူးတော်ပင် ဖြစ်ချေသည်။

وَحُشِرَ لِسُلَيْمٰنَ جُنُوْدُهٗ
مِنَ الْجِنِّ وَالْاِنْسِ
وَالطَّيْرِ فَهُمْ يُوْزَعُوْنَ ﴿١٧﴾

**၁၇။** ထိုမှတပါးစုလိုင်မာန်၏အဖို့ ထိုစုလိုင်မာန်၏ ဗိုလ်ခြေများကို ဂျင်(န်) သတ္တဝါတို့အနက်မှလည်းကောင်း၊ လူတို့အနက်မှလည်းကောင်း၊ ငှက်သတ္တဝါတို့အနက်မှလည်းကောင်း၊ စုရုံးစေခြင်းကို ခံခဲ့ကြရကုန်၏။ တဖန် ထိုဗိုလ်ခြေတို့မှာ (စနစ်တကျ စီတန်းချီတက်နိုင်ကြအံ့သောငှာ) တားမြစ်ခြင်းကိုပင် ခံကြရကုန်၏။ [၁]

حَتّٰٓي اِذَآ اَتَوْا عَلٰي وَادِ النَّمْلِ ۙ
قَالَتْ نَمْلَةٌ يّٰٓاَيُّهَا النَّمْلُ ادْخُلُوْا
مَسٰكِنَكُمْ ۚ لَا يَحْطِمَنَّكُمْ سُلَيْمٰنُ

**၁၈။** နောက်ဆုံးတွင် တစ်ရံရောအခါ ထိုဗိုလ်ခြေတို့သည် ပုရွက်ဆိတ်များရှိကြသောချောင်းလျှိုရိုးသို့ ရောက်ရှိခဲ့လေသော် ပုရွက်ဆိတ်တစ်ကောင်က အို-ပရွက်ဆိတ် အပေါင်းတို့၊ စုလိုင်မာန်နှင့်တကွ ထိုစုလိုင်မာန်၏ဗိုလ်ခြေတို့သည်အသင်တို့အား မသိမမြင်

---

(၁) တမန်တော် ဒါဝူဒ်၏သားများတွင် တမန်တော်စုလိုင်မာန်သည် တမန်တော်ဒါဝူဒ်၏ အရိုက်အရာဆက်ခံသူ အစစ်အမှန် ဖြစ်ခဲ့ပေသည်။ အလ္လာဟ်အရှင်မြတ်သည် တမန်တော် စုလိုင်မာန်အား 'နဗီဝါတ်' တမန်တော်ဖြစ်ခြင်း၏ ဂုဏ်ထူးနှင့် ဘုရင်ဖြစ်ခြင်း၏ ဂုဏ်ထူး ၂-ရပ်လုံးကို ချီးမြှင့်တော်မူခဲ့ပေသည်။ ယခင်က တစ်ဦးတစ်ယောက်မျှ မရရှိခဲ့ဖူးသော၊ နောက်နောင်တွင်လည်း တစ်ဦးတစ်ယောက်မျှ ရရှိမည်မဟုတ်သော၊ စိုးမိုးအုပ်ချုပ်မှုကို ပေးသနားတော်မူခဲ့သည်။ ထိုအရှင်မြတ်သည် 'ဂျင်န်'သတ္တဝါ၊ ငှက်တိရစ္ဆာန်နှင့် လေကိုလည်း တမန်တော်စုလိုင်မာန်၏ဩဇာခံ ဖြစ်စေတော်မူခဲ့ပေသည်။ ဤအကြောင်း ကုရ်အာန်(၃၄:၁၂-၁၄)တွင် အကျယ် တွေ့ရှိရပေမည်။

وَجُنُودُهُۥ وَهُمۡ لَا يَشۡعُرُونَ ١٨

ကြဘဲ (မတော်တဆ) ဖိကြိတ်တက်နင်း ချေမှုန်း မပစ်မိကြရန် အသင်တို့သည် မိမိတို့၏တွင်းများထဲသို့ ဝင်ရောက်လေကုန်ဟု (ဟစ်အော်)ပြောကြားခဲ့လေ၏။

فَتَبَسَّمَ ضَاحِكٗا مِّن قَوۡلِهَا وَقَالَ رَبِّ أَوۡزِعۡنِيٓ أَنۡ أَشۡكُرَ نِعۡمَتَكَ ٱلَّتِيٓ أَنۡعَمۡتَ عَلَيَّ وَعَلَىٰ وَٰلِدَيَّ وَأَنۡ أَعۡمَلَ صَٰلِحٗا تَرۡضَىٰهُ وَأَدۡخِلۡنِي بِرَحۡمَتِكَ فِي عِبَادِكَ ٱلصَّٰلِحِينَ ١٩

၁၉။ ထိုအခါ စုလိုင်မာန်သည် ထိုပရွက်ဆိတ်၏ စကားကြောင့် ပြုံးရယ်ခဲ့လေ၏။[၁] ထို့ပြင် (အလ္လာဟ် အရှင်မြတ်အထံတော်တွင်ဤသို့)လျှောက်ထားပန်ကြားခဲ့လေ၏။ အို-ကျွန်တော်မျိုးအား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်၊အရှင်မြတ်သည် ကျွန်တော်မျိုး အပေါ်၌လည်းကောင်း၊ ကျွန်တော်မျိုး၏မိဘနှစ်ပါးတို့အပေါ်၌လည်းကောင်း၊ မိမိပြုတော်မူခဲ့သောကျေးဇူးတော်နှင့်စပ်လျဉ်း၍ ကျွန်တော်မျိုးအား အမြဲကျေးဇူးသိတတ်စေတော်မူပါ။ ထို့ပြင် ကျွန်တော်မျိုးအား အရှင်မြတ် နှစ်သက်တော်မူသော ကောင်းမြတ်သော အကျင့်သီလများကိုလည်း အမြဲကျင့်မှု ဆောက်တည်နိုင်စွမ်းပေးသနားတော်မူပါ။ ထိုမှတပါး အရှင်မြတ်သည် ကျွန်တော်မျိုးအား မိမိ၏ကရုဏာတော်ဖြင့် မိမိ၏သူတော်ကောင်းကျွန်တို့တွင် ဝင်ရောက် ပါဝင်စေတော်မူပါ။

وَتَفَقَّدَ ٱلطَّيۡرَ فَقَالَ مَا لِيَ لَآ أَرَى ٱلۡهُدۡهُدَ أَمۡ كَانَ مِنَ ٱلۡغَآئِبِينَ ٢٠

၂၀။ ၎င်းပြင်ထိုစုလိုင်မာန်သည် ငှက်တိရစ္ဆာန်တို့ကို စစ်ဆေးခဲ့ရာ (ဤသို့)ပြောကြားခဲ့၏။ ငါသည် မည်သည့်အတွက်ကြောင့် ဘီးတောင်ပိုငှက်ကို မမြင်ရပါသနည်း။ သို့တည်းမဟုတ် ၎င်းသည် ပျောက်ကွယ်နေသလော။

---

(၁) **တမန်တော် စုလိုင်မာန် ပရွက်ဆိတ်ကုန်း တစ်ခုသို့ ရောက်စဉ်။**

တစ်ရံရောအခါ တမန်တော်စုလိုင်မာန်သည် မိမိ၏ဗိုလ်ခြေများနှင့် ချီတက်သွားရာ ပရွက်ဆိတ် အမြောက်အမြားနေထိုင်ရာ ဒေသတစ်ခုသို့ ရောက်ရှိသွားခဲ့၏။ ထိုအခါ ပရွက်ဆိတ်တစ်ကောင်က တမန်တော် စုလိုင်မာန်၏ ဗိုလ်ခြေများသည် မိမိတို့အား အမှုမဲ့ နင်းမိကြမည်ကို စိုးရိမ်ကြီးစွာဖြင့် မိမိအုပ်စုအား သတိပေးသည်ကို တမန်တော်စုလိုင်မာန် ကြားသိသောအခါ ပြုံးရယ်မိခဲ့လေသည်။ ယင်းသို့ ပရွက်ဆိတ်၏ သတိပေးစကားကို➤➤

لَاُعَذِّبَنَّهٗ عَذَابًا شَدِيْدًا اَوْلَاَا۟ذْبَحَنَّهٗۤ اَوْلَيَاْتِيَنِّيْ بِسُلْطٰنٍ مُّبِيْنٍ ﴿٢١﴾

၂၁။ ဧကန်မလွဲ ငါသည် အမှန်ပင် ၎င်းအား ပြင်းထန်စွာ ပြစ်ဒဏ်ပေးမည်။ သို့တည်းမဟုတ် မုချဧကန် ငါသည် ၎င်းအား လည်းဖြတ်မည်။ သို့တည်း မဟုတ် ၎င်းသည်ငါ့ထံသို့ ထင်ရှားစွာသော သက်သေ အထောက်အထားကို ဆောင်ယူလာရပေမည်။ ၁

فَمَكَثَ غَيْرَ بَعِيْدٍ فَقَالَ اَحَطْتُّ بِمَا لَمْ تُحِطْ بِهٖ وَجِئْتُكَ مِنْ سَبَاٍۭ بِنَبَاٍ يَّقِيْنٍ ﴿٢٢﴾

၂၂။ ထို့နောက် မကြာမီပင် ထိုဘီးတောင်ပိုငှက် သည် လာရောက်လျှောက်ထားလေ၏။ ကျွန်တော်မျိုး သည် ကိုယ်တော်မသိသော အကြောင်းကို သိခဲ့ပါ သည်။ ၎င်းပြင် ကျွန်တော်မျိုးသည် ကိုယ်တော်၏ထံ သို့ ရှိဗာမှမှန်ကန်သောသတင်းတစ်ခုကို ဆောင်ကြဉ်း ခဲ့ပါသည်။

---

➤➤ တမန်တော် စုလိုင်မာန် ကြားသိရခြင်းမှာ (မုအ်ဂျိဇဟ်) တန်ခိုးတော်တစ်ပါးပင်။

① **တမန်တော် စုလိုင်မာန်နှင့် 'ဟွဒ်ဟွဒ်'**

'ဟွဒ်ဟွဒ်' သည် ငှက်တစ်မျိုး၏အမည်ဖြစ်သည်။ 'ဟွဒ်ဟွဒ်' ကို အင်္ဂလိပ်ဘာသာစာပေတွင် (Hoopoe)ဟုခေါ်သည်။ (Hoopoe)ကို The University English-Burmese Dictionary တွင် 'တောင်သူဘီးငှက်'၊ 'ဘီးတောချပ်'၊ 'ဘီးတောင်ပို'၊ 'တောင်ပီစူး'၊ 'တောင်သူမီး' ဟူ၍ အမျိုးမျိုး ရေးသားဖော်ပြထားသည်။ မြန်မာပြည် အထက်အညာတွင် ဤငှက်ကို 'ဘီးတောင်ပို' ဟူ၍ပင် များသောအားဖြင့် ခေါ်ဆိုလေ့ရှိကြသည်။

ဘီးတောင်ပိုငှက်များကို ပါလစ်တိုင်းပြည်တွင် အများအပြားတွေ့ရှိရပေသည်။ အဆိုပါငှက်များသည် ဆောင်းရာသီတွင် အီဂျစ်ပြည်ဘက်သို့ ကူးပြောင်း၍၊ မတ်လတွင် ပါလစ်တိုင်းပြည်သို့ ပြန်လာလေ့ ရှိကြပေသည်။

အလ္လာဟ်အရှင်မြတ်သည် အချို့ငှက်များကို အချို့(Sense) သိမြင်ခံစားတတ်သော အာရုံများတွင် အခြားတိရစ္ဆာန်များထက်သာမက လူသားတို့ထက်ပင် ပိုမို၍ စွမ်းရည်ချီးမြှင့်ထားတော်မူသည်။ ဘီးတောင်ပိုငှက် များသည် ရေရှိရာဒေသကို ကောင်းစွာသိကြသည်။ ထို့အတူ တီကောင်ရှိရာဒေသကိုလည်း ကောင်းစွာသိကြသည်။ မြေအောက်တွင်ရှိသော တီကောင်ကိုလည်း လျင်စွာ တူးယက် ယူငင်နိုင်ကြပေသည်။

တမန်တော်စုလိုင်မာန်သည် ငှက်များကိုလည်း အမျိုးမျိုးအသုံးချတော် မူခဲ့ပေသည်။ ဥပမာ– တမန်တော်စုလိုင်မာန် လေကြောင်းခရီးဖြင့် ခရီးထွက်သည့်အခါ ငှက်များသည် အတောင်များယှက်၍ အရိပ် အာဝါသ ပြုလုပ်ပေးကြရသည်။ တစ်ခါတစ်ရံ ငှက်များသည် ရေရှိရာဒေသကို ရှာပေးကြရသည်။ တစ်ခါတစ်ရံ စာပေးစာယူ ပြုလုပ်ပေးကြရသည်။ တစ်ခါတစ်ရံ သတင်းထောက်လှမ်းပေးကြရသည်။

တစ်နေ့သောအခါ တမန်တော်စုလိုင်မာန်သည် အရေးကိစ္စတစ်ခုကြောင့် ပျံသန်းသွားလာသော စစ်သည်များကို စစ်ဆေးကြည့်ရှုရာတွင်၊ ဘီးတောင်ပိုငှက်ကို မတွေ့မမြင်ရသောအခါ ➤➤

إِنِّي وَجَدتُّ امْرَأَةً تَمْلِكُهُمْ وَأُوتِيَتْ مِن كُلِّ شَيْءٍ وَلَهَا عَرْشٌ عَظِيمٌ ﴿٢٣﴾

၂၃။ ဧကန်အမှန် ကျွန်တော်မျိုးသည် ထိုရှီဗာကို စိုးမိုးအုပ်ချုပ်လျက်ရှိသော မိန်းမတစ်ဦးအား တွေ့ခဲ့ပါသည်။ ၎င်းပြင်ထိုမိန်းမမှာ အရာခပ်သိမ်းတို့ ချီးမြှင့်ပေးသနားခြင်းခံရသည့်ပြင် ၎င်း၌ ကြီးကျယ်ခမ်းနားသော ပလ္လင်တစ်ခုသည်လည်း ရှိပါသည်။

وَجَدتُّهَا وَقَوْمَهَا يَسْجُدُونَ لِلشَّمْسِ مِن دُونِ اللَّهِ وَزَيَّنَ لَهُمُ الشَّيْطَانُ أَعْمَالَهُمْ فَصَدَّهُمْ عَنِ السَّبِيلِ فَهُمْ لَا يَهْتَدُونَ ﴿٢٤﴾

၂၄။ ကျွန်တော်မျိုးသည် ထိုမိန်းမအားလည်းကောင်း၊ ထိုမိန်းမ၏အမျိုးသားတို့အားလည်းကောင်း၊ အလ္လာဟ်အရှင်မြတ်အားစွန့်၍နေကိုပျပ်ဝပ်ဦးချ(ကိုးကွယ်ဆည်းကပ်)နေကြသည်ကို တွေ့ခဲ့ပါသည်။ စင်စစ် 'ရှိုင်တွာန်'မိစ္ဆာကောင်သည် ၎င်းတို့၏ပြုမူချက်များကို ၎င်းတို့၏အမြင်တွင် လှပတင့်တယ်အောင် ပြုလုပ်၍ထားပါသည်။ တစ်ဖန် ထိုရှိုင်တွာန်'မိစ္ဆာကောင်သည် ၎င်းတို့အား (မှန်ကန်သော) တရားလမ်းမှ ပိတ်ပင်တားဆီး၍ထားခဲ့ရာ ၎င်းတို့သည် တရားလမ်းမှန်ကို မရနိုင်ကြပါ။

أَلَّا يَسْجُدُوا لِلَّهِ الَّذِي يُخْرِجُ الْخَبْءَ فِي السَّمَاوَاتِ وَالْأَرْضِ وَيَعْلَمُ مَا تُخْفُونَ وَمَا تُعْلِنُونَ ﴿٢٥﴾

၂၅။ အကြင် အလ္လာဟ်အရှင်မြတ်အား ပျပ်ဝပ်ဦးချ(ဆည်းကပ် ကိုးကွယ်)ကြရန် ထိုအရှင်မြတ်သည် မိုးကောင်းကင်များ၌လည်းကောင်း၊ ပထဝီမြေ၌လည်းကောင်း၊ ဖုံးအုပ်လျက်ရှိသည်ကို အပြင်သို့ထွက်စေတော်မူ၏။ ထိုမှတပါး ထိုအရှင်မြတ်သည် အသင်တို့လျှို့ဝှက်ကြကုန်သော ကိစ္စများကိုလည်းကောင်း၊ အသင်တို့ ထင်ရှားစေကြကုန်သော ကိစ္စများကို (အလုံးစုံတို့ကို) သိရှိတော်မူ၏။

➤➤ 'ဘီးတောင်ပိုင့်ကို ငါ မတွေ့မမြင်ရပါတကား၊ ဘီးတောင်ပိုင့်သည် ပျောက်ကွယ်နေသလော၊ ဘီးတောင်ပိုင့်သည် ခိုင်လုံသောအကြောင်း တင်မပြနိုင်ပါက ငါသည်၎င်းအား ပြင်းထန်စွာ အရေးယူမည်။ သို့မဟုတ် ကွပ်မျက်လိုးဖြတ်မည်'ဟု ကြုံးဝါးခဲ့လေသည်။

اَللّٰهُ لَآ اِلٰهَ اِلَّا هُوَ رَبُّ الْعَرْشِ الْعَظِيْمِ ۩ ﴿٢٦﴾

၂၆။ အလ္လာဟ်အရှင်မြတ်သည် (အကြင်အရှင်မြတ်ပင်၊)ထိုအရှင်မြတ်မှတပါး ခဝပ်ကိုးကွယ်ရာအရှင်ဟူ၍ အလျင်းမရှိပေ။ ကြီးကျယ်လှစွာသော 'အရ်ရှ်' ပလ္လင်တော်ကို စိုးပိုင်တော်မူသော အရှင်မြတ်ပင် ဖြစ်ပေသတည်း။ ၁

قَالَ سَنَنْظُرُ اَصَدَقْتَ اَمْ كُنْتَ مِنَ الْكٰذِبِيْنَ ﴿٢٧﴾

၂၇။ ထိုစုလိုင်မာန်က ပြောကြားခဲ့လေ၏။ အသင်သည် မှန်ကန်စွာ လျှောက်ထားခဲ့လေ သလော။ သို့တည်းမဟုတ် အသင်သည် မုသာဝါဒီတို့အနက် ပါဝင်လေသလောဟု ယခုပင် ငါရှုမည်။

اِذْهَبْ بِّكِتٰبِيْ هٰذَا فَاَلْقِهْ اِلَيْهِمْ ثُمَّ تَوَلَّ عَنْهُمْ فَانْظُرْ مَاذَا يَرْجِعُوْنَ ﴿٢٨﴾

၂၈။ အသင်သည် ငါ၏စာကို ယူဆောင်၍ သွားလော့၊ ထို့နောက် အသင်သည် ဤစာကို ၎င်းတို့ထံ ချ၍ ပေးပြီးလျှင်၊ ၎င်းတို့၏အပါးမှ (အနည်းငယ်) ဘေးဖယ်၍နေလော့။ တစ်ဖန် အသင်သည် ၎င်းတို့ မည်သို့ အကြောင်းပြန်ကြသည်ကို ရှုလော့။

---

(၁) **ဘီးတောင်ပို၏ အစီရင်ခံချက်။**

များမကြာမီအတွင်း ဘီးတောင်ပိုသည် ပြန်လည်ရောက်ရှိလာပြီး တမန်တော်စုလိုင်မာန်အား– 'ကျွန်တော်မျိုးသည် ကိုယ်တော် မသိရှိသေးသော အကြောင်းတစ်ရပ်ကို သိခဲ့ရပါသည်။ ကျွန်တော်မျိုးသည် 'ရှီဗာ' မှ ခိုင်လုံသော သတင်းတစ်ရပ်ကို ယူဆောင်လာခဲ့ပါသည်။

'ကျွန်တော်မျိုးသည် (ရှီဗာတွင်) မင်းလုပ်အုပ်ချုပ်နေသော အမျိုးသမီးတစ်ဦးကို တွေ့ခဲ့ရပါသည်။ ထိုအမျိုးသမီးမှာ (စီမံအုပ်ချုပ်ရေးနှင့်စပ်လျဉ်း၍) အရာခပ်သိမ်း ပြည့်စုံပါသည်။ ကြီးကျယ်သော ရာဇပလ္လင်တစ်ခုလည်း ရှိပါသည်။ သို့ရာတွင် ထိုအမျိုးသမီးနှင့်တကွ ၎င်း၏အမျိုးသားများသည် အလ္လာဟ်အရှင်တော်မြတ်အား ဆည်းကပ် ကိုးကွယ်ခြင်းမပြုဘဲ နေကို ဆည်းကပ် ကိုးကွယ်နေကြပါသည်။

'ရှိုင်တွာန်'သည် ၎င်းတို့၏အမြင်တွင် ၎င်းတို့၏ပြုမှုချက်များကို လှပတင့်တယ်စွာပြထားပြီး အမှန်တရားမှ ဖယ်ရှားတားဆီးထားပါသည်။ ထို့အတွက် ၎င်းတို့သည် အမှန်တရားကို မရရှိကြပါ။ မိုးကောင်းကင်များနှင့် ပထဝီမြေအတွင်းရှိ ဖုံးကွယ်လျက်ရှိသည်များကို ပေါ်ထွက်စေတော်မူသော၊ လူသားတို့ လျှို့ဝှက် ဖုံးကွယ်ထားကြသည်များနှင့် ထုတ်ဖော်ကြသည်များကို သိတော်မူသော အလ္လာဟ်အရှင်မြတ်အား ပျပ်ဝပ်ဦးမချကြပေ။ အမှန်မှာ အလ္လာဟ်အရှင်မြတ်မှတစ်ပါး အခြားကိုးကွယ်ရာဟူ၍ အလျှင်းမရှိ။ ထိုအရှင်မြတ်သည် အလွန်ကြီးကျယ်သော ရာဇပလ္လင်တော်ကို စိုးပိုင်တော်မူသောအရှင် ဖြစ်တော်မူပါသည်'ဟု လျှောက်ထား အစီရင်ခံလေသည်။

قَالَتْ يَا أَيُّهَا الْمَلَأُ إِنِّي أُلْقِيَ إِلَيَّ كِتَابٌ كَرِيمٌ ٢٩

၂၉။ ထို(ရှီဗာဘုရင်မ)က (ဤသို့) ပြောကြားခဲ့လေ၏။ အို-မှူးမတ်အပေါင်းတို့၊ ကေန်စင်စစ် မြင့်မြတ်လှစွာသော စာတစ်စောင်သည် ကျွန်ုပ်၏ထံသို့ ပေးပို့ခြင်း ခံခဲ့ရလေသည်။

إِنَّهُ مِن سُلَيْمَانَ وَإِنَّهُ بِسْمِ اللَّهِ الرَّحْمَٰنِ الرَّحِيمِ ٣٠

၃၀။ ကေန်စင်စစ်ထိုစာမှာ စုလိုင်မာန်ထံမှ ဖြစ်၏။ ထို့ပြင် ကေန်အမှန် ၎င်းမှာ ဤသို့ဖြစ်၏။ ကြီးမားလှသော၊ ကရုဏာရှင်ဖြစ်တော်မူသော၊ အလွန်တရာ သနားညှာတော်မူသော အလ္လာဟ်အရှင်မြတ်၏ နာမံတော်ဖြင့် အစပြု၏။

أَلَّا تَعْلُوا عَلَيَّ وَأْتُونِي مُسْلِمِينَ ٣١

၃၁။ အသင်တို့သည် ငါနှင့်ယှဉ်ပြိုင်၍ ဘဝင်မကြွကြကုန်လင့်။ ထိုမှတပါး အသင်တို့သည် ငါ့ထံသို့ 'မွတ်စ်လင်မ်' အမိန့်နာခံသူများအဖြစ် လာရောက်ကြလေကုန်။

قَالَتْ يَا أَيُّهَا الْمَلَأُ أَفْتُونِي فِي أَمْرِي مَا كُنتُ قَاطِعَةً أَمْرًا حَتَّىٰ تَشْهَدُونِ ٣٢

၃၂။ ထို(ရှီဗာဘုရင်မ)က အို-မှူးမတ်အပေါင်းတို့။ အသင်တို့သည် ကျွန်မ၏အရေးနှင့်စပ်လျဉ်း၍ ကျွန်မအား အကြံဉာဏ်ပေးကြလေကုန်။ အသင်တို့သည် ကျွန်မ၏အပါး၌မရှိသမျှကာလပတ်လုံး ကျွန်မသည် မည်သည့်ကိစ္စကိုမျှပင် စီရင်ဆုံးဖြတ်လေ့ မရှိပါဟု ပြောကြားခဲ့လေ၏။

قَالُوا نَحْنُ أُولُو قُوَّةٍ وَأُولُو بَأْسٍ شَدِيدٍ وَالْأَمْرُ إِلَيْكِ فَانظُرِي مَاذَا تَأْمُرِينَ ٣٣

၃၃။ ထိုမှူးမတ်တို့က ကျွန်ုပ်တို့သည် ခွန်အားရှိသူများ၊ တိုက်ခိုက်မှုကိုပြင်းထန်စွာ ဝါသနာထုံသူများဖြစ်ကြပါသည်။ သို့ရာတွင် အမိန့်အာဏာသည်ကား အသင် ဘုရင်မ၏လက်တွင်း၌သာရှိပေရာ အသင်ဘုရင်မသည် မည်သို့အမိန့်ပေးမည်ကို (ဆင်ခြင်)ပါလော့ဟု လျှောက်ထားခဲ့ကြကုန်၏။

قَالَتْ إِنَّ الْمُلُوكَ إِذَا دَخَلُوا
قَرْيَةً أَفْسَدُوهَا وَجَعَلُوا
أَعِزَّةَ أَهْلِهَا أَذِلَّةً ۚ
وَكَذَٰلِكَ يَفْعَلُونَ ﴿٣٤﴾

၃၄။ ထို(ရှီဗာ ဘုရင်မ)က ပြောကြားခဲ့လေ၏။ ဧကန်မလွဲ ဘုရင်မင်းတို့ မည်သည့် မြို့ရွာတစ်ခုသို့ ဝင်ရောက်ကြလေသောအခါ ထိုမြို့ရွာကို ဖျက်ဆီးလေ့ရှိကြကုန်၏။ ထို့ပြင် ၎င်းတို့သည် ယင်းမြို့ရွာမှ ဂုဏ်အသရေရှိသူတို့အား ဂုဏ်အသရေသေးသိမ်သူများ ဖြစ်စေကြကုန်၏။ ၎င်းတို့သည်လည်း ဤအတိုင်းပင် ပြုမူကြပေမည်။

وَإِنِّي مُرْسِلَةٌ إِلَيْهِمْ بِهَدِيَّةٍ
فَنَاظِرَةٌ بِمَ يَرْجِعُ الْمُرْسَلُونَ ﴿٣٥﴾

၃၅။ သို့ရာတွင် ကျွန်မမူကား ၎င်းတို့ထံ လက်ဆောင်ပဏ္ဏာတစ်စုံတစ်ခုကို ပေးပို့ပြီးနောက် စေတမန်တို့သည် မည်သို့သော ပြန်ကြားချက် ယူဆောင်လာကြသည်ကို (စောင့်၍)ကြည့်မည်။

فَلَمَّا جَاءَ سُلَيْمَانَ قَالَ
أَتُمِدُّونَنِ بِمَالٍ فَمَا
آتَانِيَ اللَّهُ خَيْرٌ مِمَّا آتَاكُمْ
بَلْ أَنْتُمْ بِهَدِيَّتِكُمْ تَفْرَحُونَ ﴿٣٦﴾

၃၆။ ထို့နောက် ထို(သံတမန်တို့)သည် စုလိုင်မာန်၏ထံသို့ ရောက်ရှိခဲ့လေသော် ထိုစုလိုင်မာန်က (ဤသို့) ပြောကြားခဲ့၏။ အသင်တို့သည် ငါ့အား ပစ္စည်းဥစ္စာဖြင့်ကူညီလိုကြလေသလော။ စင်စစ် ငါ့အား အလ္လာဟ်အရှင်မြတ် ချီးမြှင့်ပေးသနားထားတော်မူသည်များမှာ ထိုအရှင်မြတ်ကအသင်တို့အား ချီးမြှင့်ပေးသနား ထားတော်မူသည်တို့ထက်ပင် ပိုမို၍ ကောင်းမြတ်လှပေသည်။

စင်စစ်မှာကား အသင်တို့သည်ပင်လျှင် မိမိတို့၏ လက်ဆောင်ပဏ္ဏာနှင့် မော်ကြွားလျက် ရှိကြပေမည်။

ارْجِعْ إِلَيْهِمْ فَلَنَأْتِيَنَّهُمْ
بِجُنُودٍ لَا قِبَلَ لَهُمْ بِهَا

၃၇။ အသင်သည် ၎င်းတို့ထံ ပြန်သွားလော့။ ထို့နောက် ဧကန်အမှန် ငါတို့သည် ၎င်းတို့ထံ ၎င်းတို့ ယှဉ်ပြိုင်နိုင်စွမ်းမရှိသော ရဲမက်များနှင့်တကွ ချီတက်ရောက်ရှိ၍ လာကြမည်။

وَلَنُخۡرِجَنَّهُم مِّنۡهَآ أَذِلَّةً وَهُمۡ صَٰغِرُونَ ٣٧

ထိုမှတပါး ဧကန်မလွဲ ငါတို့သည် ၎င်းတို့အား ထို(မြို့ရွာ)မှ ဂုဏ်ရည် သေးသိမ်သူများအဖြစ် နှင့်နှင်ထုတ်ကြမည်။ ထို(အခါ)၎င်းတို့သည် အရှက်ကွဲ အကျိုးနည်းသူများ ဖြစ်သွားကြပေမည်။ ၁

قَالَ يَٰٓأَيُّهَا ٱلۡمَلَؤُاْ أَيُّكُمۡ يَأۡتِينِي بِعَرۡشِهَا قَبۡلَ أَن يَأۡتُونِي مُسۡلِمِينَ ٣٨

၃၈။ ထိုစုလိုင်မာန်က 'အို-မှူးမတ်အပေါင်းတို့။ ၎င်းတို့သည်ငါ့ထံသို့ 'မွတ်စ်လင်မ်'အမိန့်ကိုနာခံသူများ အဖြစ် မရောက်လာကြမီ၊ အသင်တို့အနက် မည်သူ သည် ထိုဘုရင်မ၏ရာဇပလ္လင်ကို ငါ့ထံသို့ ယူလာနိုင် သနည်း' ဟု ပြောဆိုမေးမြန်းခဲ့၏။

قَالَ عِفۡرِيتٞ مِّنَ ٱلۡجِنِّ أَنَا۠ ءَاتِيكَ بِهِۦ قَبۡلَ أَن تَقُومَ مِن مَّقَامِكَۖ وَإِنِّي عَلَيۡهِ لَقَوِيٌّ أَمِينٞ ٣٩

၃၉။ ဂျင်(န်)သတ္တဝါတို့အနက်မှ အလွန်ခွန်အား ဗလကြီးသောဂျင်(န်)တစ်ဦးက ကိုယ်တော်သည် မိမိ နေရာမှ မထမီ ကျွန်တော်မျိုးသည် ထိုရာဇပလ္လင်ကို ကိုယ်တော်ထံသို့ ဆောင်ကြဉ်းခဲ့ပါမည်။ အမှန်သော် ကား ကျွန်တော်မျိုးသည် ဧကန်မလွဲ ဤကိစ္စနှင့် စပ်လျဉ်း၍ ပြုစွမ်းနိုင်သူ၊ ယုံကြည်စိတ်ချရသူ တစ်ဦးပင် ဖြစ်ပါသည်ဟု လျှောက်ထားခဲ့လေ၏။

---

(၁) **တမန်တော် စုလိုင်မာန်၏ ကြုံးဝါးသံ။**

တမန်တော်စုလိုင်မာန်ထံသို့ ရှီဗာဘုရင်မထံမှ လက်ဆောင်ပဏ္ဏာများ ယူဆောင်လာသော ကိုယ်စားလှယ်များ ရောက်ရှိလာသည့်အခါ၊ တမန်တော် စုလိုင်မာန်က- 'အသင်တို့သည် ကျွန်ုပ်အား လောကီရေး ဆိုင်ရာ ဘုရင်တစ်ပါးမျှသာ ထင်မှတ်ကာ ဤလက်ဆောင်ပဏ္ဏာများ ဆက်သနေကြသည်။ အသင်တို့ သိထားအပ်သည်မှာ- အလ္လာဟ်အရှင်မြတ်သည် ကျွန်ုပ်အား 'ရိစာလတ်'၊ 'ဟုကူမတ်' အာဏာစက်၊ ဓမ္မစက် ၂-ရပ်လုံးကို ချီးမြှင့်ထားတော်မူသည်။ ထိုအရှင်မြတ်က ကျွန်ုပ်အား ချီးမြှင့်ထားတော်မူသော ဓမ္မစက်နှင့် အာဏာစက်သည် အသင်တို့၏တိုင်းပြည်၊ ဥစ္စာ၊ ရွှေ၊ ငွေတို့ထက် အတိုင်းမသိ ပိုမိုကောင်းမြတ်သည်။ ကျွန်ုပ်သည် အစ္စလာမ်ကိုသာ လိုလားသည်။ ကျွန်ုပ်သည် ဤသည့်လောကီ ဥစ္စာပစ္စည်းများကို မလိုလား၊ အသင်တို့သည်သာလျှင် အသင်တို့၏ လက်ဆောင်ပဏ္ဏာများဖြင့် ပီတိဖြစ်ကြပေမည်။ အသင်တို့သည် မိမိ တို့၏ လက်ဆောင်ပဏ္ဏာများကို ယူဆောင်၍ ပြန်ကြကုန်။ ကျွန်ုပ်သည် အသင်တို့ထံသို့ အလွန်ကြီးမား များပြားသော ဗိုလ်ခြေများနှင့်တကွ ချီတက်လာမည်။ အသင်တို့အား တိုင်းပြည်မှ နှင်ထုတ်မည်။ အသင်တို့သည် အနည်းငယ်စိုးစဉ်းမျှ ခုခံကာကွယ်နိုင်ကြမည် မဟုတ်။ အသင်တို့သည် အရှက်တကွဲ အကျိုးနည်းကြရတော့မည်' ဟု ကြုံးဝါးသံပ မိန့်ပွက်ဟလိုက်လေသည်။

قَالَ الَّذِيْ عِنْدَهٗ عِلْمٌ مِّنَ
الْكِتٰبِ اَنَا اٰتِيْكَ بِهٖ قَبْلَ
اَنْ يَّرْتَدَّ اِلَيْكَ طَرْفُكَ ۗ
فَلَمَّا رَاٰهُ مُسْتَقِرًّا عِنْدَهٗ
قَالَ هٰذَا مِنْ فَضْلِ رَبِّيْ ۗ
لِيَبْلُوَنِيْٓ ءَاَشْكُرُ اَمْ اَكْفُرُ ۗ
وَمَنْ شَكَرَ فَاِنَّمَا يَشْكُرُ
لِنَفْسِهٖ ۚ وَمَنْ كَفَرَ فَاِنَّ
رَبِّيْ غَنِيٌّ كَرِيْمٌ ﴿٤٠﴾

၄၀။ ကျမ်းဂန်၏ အသိပညာရှိသူတစ်ဦးက ကျွန်တော်မျိုးသည် ထိုရာဇပလ္လင်ကို ကိုယ်တော်၏ မျက်စိတစ်မှိတ်အတွင်း၊ ကိုယ်တော်ထံသို့ ဆောင်ကြဉ်းခဲ့ပါမည်ဟု လျှောက်ထားခဲ့လေ၏။

ထို့နောက် ထိုစုလိုင်မာန်သည် ထိုရာဇပလ္လင်ကို မိမိအနီးတွင် တည်ရှိနေသည်ကို တွေ့မြင်ခဲ့သောအခါ (ဤသို့) ပြောကြားခဲ့လေ၏။ ဤသည် ငါ့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်၏ ကျေးဇူးတော်တစ်ရပ်ပင်၊ ငါသည် ကျေးဇူးတင်လေသလော၊ သို့တည်းမဟုတ် ငါသည် ကျေးဇူးကန်းလေသလော၊ ဟု ထိုအရှင်မြတ်သည် ငါ့အားစမ်းသပ်တော်မူခြင်းငှာ ဖြစ်ပေသည်။

စင်စစ်သော်ကား မည်သူမဆို ကျေးဇူးတင်ခဲ့လျှင် မိမိအကျိုးငှာ ကျေးဇူးတင်ခဲ့ခြင်းသာ ဖြစ်ပေမည်။ သို့ရာတွင် မည်သူမဆို ကျေးဇူးကန်းခဲ့လျှင် ဧကန်မလွဲ ငါ့အား ဖန်ဆင်း မွေးမြူတော်မူသော အရှင်မြတ်သည် လိုလားတောင့်တခြင်း ကင်းမဲ့တော်မူသော၊ အလွန်တရာ ရက်ရောတော်မူသောအရှင်မြတ်ပင် ဖြစ်ပေသတည်း။ [၁]

---

**(၁) ရှီဗာဘုရင်မ၏ ရာဇပလ္လင်ကို မျက်စိတစ်မှိတ်အတွင်း ယူဆောင်လာခြင်း။**

ရှီဗာဘုရင်မ၏ ကိုယ်စားလှယ်များသည် ပြန်သွားကြပြီးလျှင် တမန်တော်စုလိုင်မာန်၏ ကြုံးဝါးပုံကို အစီရင်ခံခဲ့ကြလေသည်။ ရှီဗာဘုရင်မသည် စုလိုင်မာန်ဘုရင်ကား သာမန်ဘုရင်တစ်ပါးမဟုတ်၊ အလ္လာဟ်အရှင်မြတ် ချီးမြှင့်ထားတော်မူသော ဓမ္မစက်၊ အာဏာစက်ရ စွမ်းရည်သတ္တိ တန်ခိုးဂုဏ်သိမ် အရှိန်အဝါကြီးမားသော တမန်တော်ကြီးတစ်ပါး ဖြစ်ကြောင်း၊ ထိုသို့သောတမန်တော်နှင့် ယှဉ်ပြိုင်ခြင်းဖြင့် မည်သို့မျှ အကျိုးရှိမည် မဟုတ်ကြောင်း၊ မိမိတို့မှာသာ ဆုံးရှုံးခြင်းကြီးမက ဆုံးရှုံးကြရမည် ဖြစ်ကြောင်းများကို ကောင်းစွာရိပ်စားမိကာ၊ နောက်ဆုံးတွင် ရှီဗာဘုရင်မသည် တမန်တော်စုလိုင်မာန်၏ စာချွန်တော်တွင် ပါရှိသည့်အတိုင်း မွတ်စ်လင်မ်ဖြစ်ကာ ခြွေရံသင်းပင်းတို့နှင့်တကွ တမန်တော်စုလိုင်မာန်ထံ ဝင်ရောက်ရန်အလို့ငှာ ရှီဗာမှ ထွက်ခွာလာခဲ့လေသည်။

ရှီဗာဘုရင်မ ဆီးရီးယားပြည်အနီးသို့ ရောက်လာသောအခါ တမန်တော်စုလိုင်မာန်သည် မိမိအား ➢➢

قَالَ نَكِّرُوْا لَهَا عَرْشَهَا نَنْظُرْ اَتَهْتَدِيْٓ اَمْ تَكُوْنُ مِنَ الَّذِيْنَ لَا يَهْتَدُوْنَ ﴿٤١﴾

၄၁။ ထိုစုလိုင်မာန်က သင်တို့သည် ထိုဘုရင်မ၏ ရာဇပလ္လင်ကို အသွင်ပြောင်းကြလေကုန်။ ထိုဘုရင်မ သည် မှန်ကန်စွာ သိလေသလော၊ သို့တည်းမဟုတ် မှန်ကန်စွာ မသိသူတို့အနက်မှ ဖြစ်လေသလော၊ ဟု ကျွန်ုပ်တို့သည် ကြည့်ရှုကြပေမည်ဟူ၍ ပြောကြားခဲ့ လေ၏။

فَلَمَّا جَآءَتْ قِيْلَ اَهٰكَذَا عَرْشُكِ ۭ قَالَتْ كَاَنَّهٗ هُوَ ۚ وَاُوْتِيْنَا الْعِلْمَ مِنْ قَبْلِهَا وَكُنَّا مُسْلِمِيْنَ ﴿٤٢﴾

၄၂။ ထို့နောက် ထိုဘုရင်မသည် ရောက်ရှိ၍ လာ သောအခါတစ်စုံတစ်ယောက်က အသင်၏ရာဇပလ္လင် သည် ဤအတိုင်းပင် ဖြစ်ပါသလောဟု မေးရာ၊ ထိုဘုရင်မက *'ဤရာဇပလ္လင်မှာ ထိုရာဇပလ္လင်ပင် ဖြစ်ဟန်တူပါသည်။'* [၁] စင်စစ်ကျွန်ုပ်တို့သည်ဤသည့် အလျင်ကပင် အသိပညာကို ချီးမြှင့်ပေးသနားတော် မူခြင်းကို ခံခဲ့ကြရပြီ။ ၎င်းပြင် ကျွန်ုပ်တို့သည် 'မွတ်စ်လင်မ်' အမိန့်ကို နာခံသူများပင် ဖြစ်ခဲ့ပေပြီ' ဟု ပြောဆိုဖြေကြားခဲ့လေ၏။

---

➤➤ အလ္လာဟ်အရှင်မြတ် ချီးမြှင့်ထားတော်မူသော အချို့တန်ခိုးတော်များကို ထင်ရှားပြသရန်အလို့ငှာ မိမိ၏ မှူးမတ် များအား- 'ရှီဗာဘုရင်မ ကျွန်ုပ်ထံရောက်မလာမီ ၎င်း၏ရာဇပလ္လင်ကို ကျွန်ုပ်ထံ မည်သူ ယူဆောင်လာနိုင်သနည်း' မိန့်ဆိုရာ၊ ဂျင်(န်)တစ်ဦးက 'ကျွန်တော်မျိုးသည် ဘုရင်မင်းမြတ် ညီလာခံ မရုပ်သိမ်းမီ ထိုရာဇပလ္လင်ကို ရှေ့တော်မှောက်သို့ ယူဆောင်လာနိုင်ပါသည်'ဟု လျှောက်ထားလေသည်။

တမန်တော်စုလိုင်မာန်သည် ထို့ထက်ပင် အလျင်အမြန် အလိုရှိရာ၊ တမန်တော်စုလိုင်မာန်၏ တပည့်သာဝကများအနက်မှ ကောင်းကင်ကျမ်းဂန် အသိပညာရှိသော၊ ဝန်ကြီးလည်းဖြစ်သော အာဆွိဖ် အစ်ဗ်နုဗရ်ခိယာက 'ကျွန်တော်မျိုးသည် ထိုရာဇပလ္လင်ကို မျက်စိတစ်မှိတ်အတွင်း ယူဆောင်လာနိုင်ပါသည်' ဟုလျှောက်ထားကာ၊ အဆိုပါရာဇပလ္လင်ကို အရှင်မြတ်၏ ကျေးဇူးတော်ဖြင့် မျက်စိတစ်မှိတ်အတွင်းမှာပင် ယူဆောင်လာခဲ့လေသည်။ (ဤသည် တမန်တော်စုလိုင်မာန်၏ 'မုအ်ဂျိဇဟ်' တန်ခိုးတစ်ပါးပင်)။ ယင်းသည့် အခြင်းအရာကို တွေ့မြင်သောအခါ၊ တမန်တော်စုလိုင်မာန်က ဤသည် ကျွန်ုပ်အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်သခင်၏ ကျေးဇူးတော်ပင် ဖြစ်သည်ဟု မြွက်ဆိုကာ အလ္လာဟ်အရှင်မြတ်အား ကျေးဇူးတင်လေသည်။

(၁) **ရှီဗာဘုရင်မ၏ ဉာဏ်အမြော်အမြင်ကို စမ်းသပ်ခြင်း။**

တမန်တော်စုလိုင်မာန်သည် ရှီဗာဘုရင်မ၌ ဉာဏ်အမြော်အမြင်နှင့် တရားဓမ္မရရှိနိုင်ရန် စွမ်းရည်သတ္တိ အဘယ်မျှရှိသည်ကို စမ်းသပ်ရန်အလို့ငှာ ရှီဗာဘုရင်မ၏ ရာဇပလ္လင်ကို အသွင်အပြင် အဆင်အယင် ➤➤

وَصَدَّهَا مَا كَانَتْ تَّعْبُدُ مِنْ دُونِ اللّٰهِ ۖ إِنَّهَا كَانَتْ مِنْ قَوْمٍ كٰفِرِينَ ﴿٤٣﴾

၄၃။ စင်စစ်သော်ကား ထိုဘုရင်မအား အလ္လာဟ် အရှင်မြတ်ကိုစွန့်၍ ၎င်းကိုးကွယ်လျက်ရှိခဲ့သော အရာ များက တားဆီးထားခဲ့ခြင်း ဖြစ်ပေသည်။ (တနည်း) [၎င်းပြင် အလ္လာဟ်အရှင်မြတ်က သို့မဟုတ် ထိုအရှင် မြတ်၏ အမိန့်တော်အရ တမန်တော် စုလိုင်မာန်က ထိုဘုရင်မအား အလ္လာဟ်အရှင်မြတ်အား မကိုးကွယ် ဘဲနှင့် ၎င်းဆည်းကပ်ကိုးကွယ်နေခဲ့သော အရာများမှ တားဆီးလိုက်လေသည်။] ဧကန်စင်စစ်ထိုဘုရင်မသည် 'ကာဖိရ်' သွေဖည်ငြင်းပယ်ကြသော အမျိုးသားတို့ အနက်မှပင် ဖြစ်ခဲ့ပေသည်။

قِيلَ لَهَا ادْخُلِي الصَّرْحَ ۖ فَلَمَّا رَأَتْهُ حَسِبَتْهُ لُجَّةً وَّكَشَفَتْ عَنْ سَاقَيْهَا ۚ قَالَ إِنَّهُ صَرْحٌ مُّمَرَّدٌ مِّنْ قَوَارِيرَ ۗ قَالَتْ رَبِّ إِنِّي ظَلَمْتُ نَفْسِي وَأَسْلَمْتُ مَعَ سُلَيْمٰنَ لِلّٰهِ رَبِّ الْعٰلَمِينَ ﴿٤٤﴾

၄၄။ (ထို့နောက်) ထိုဘုရင်မအား အသင်သည် ဧည့်ခန်းတွင်းသို့ ဝင်ရောက်ပါလေဟု တစ်စုံတစ် ယောက်က ပြောကြားခဲ့လေ၏။ သို့ဖြစ်ပေရာ ထို ဘုရင်မသည် ယင်းဧည့်ခန်းကို မြင်လေသော်၊ ထို ဧည့်ခန်းကို နက်စွာသောရေဟု ထင်မှတ်၍ မိမိ ခြေသလုံးနှစ်ဘက်ကို ဖော်ခဲ့လေ၏။ (ထိုအခါ) ထို စုလိုင်မာန်က ဧကန်စင်စစ် ဤသည် ဖန်များဖြင့် ချောမွတ်အောင် ပြုလုပ်ထားသော ဧည့်ခန်းပင် ဖြစ်သည်ဟု ပြောကြားခဲ့လေ၏။

ထိုဘုရင်မက အို-ကျွန်တော်မျိုးအား ဖန်ဆင်း မွေးမြူတော်မူသောအရှင်မြတ်၊ ဧကန်မလွဲ ကျွန်တော် မျိုးမသည် မိမိကိုယ်ကို မိမိနှိပ်စက်မိခဲ့ပါပြီ။

---

➤➤ အရောင်အဆင်း ပုံပန်းသဏ္ဍာန် တစ်နည်းတစ်ဖုံ ပြောင်းလဲပစ်စေတော်မူခဲ့သည်။ ထို့နောက် ရှီဗာဘုရင်မအား အဆင်အယင်ပြောင်းလဲထားသော ၎င်း၏ရာဇပလ္လင်ကိုပြ၍ 'အသင်မ၏ ရာဇပလ္လင်သည် ဤကဲ့သို့ပင်လော' ဟုမေးရာ၊ ရှီဗာဘုရင်မသည် ဉာဏ်အမြော်အမြင် ထက်မြက်လှသည့်အတွက် အဆင်အယင်ပြောင်းလဲ ထားသော မိမိ၏ရာဇပလ္လင်ကို ကောင်းစွာရိပ်စားမိပြီး၊ 'ဤရာဇပလ္လင်မှာ ကျွန်မ၏ ရာဇပလ္လင်ကဲ့သို့ပင် ဖြစ်ပါသည်'ဟု မလွန်မယုတ် ဖြေကြားခဲ့လေသည်။ ဤသည် ရှီဗာဘုရင်မ၏ ဉာဏ်အမြော်အမြင် ထက်မြက်မှု၏အကျိုးပင်။

သို့ရာတွင် (ယခုသော်ကား) ကျွန်တော်မျိုးမသည် စုလိုင်မာန်နှင့်အတူ (အရှင်မြတ်၏)အမိန့်တော်ကိုလိုက်နာပါပြီဟု လျှောက်ထားခဲ့လေသတည်း။ [၁]

وَلَقَدْ أَرْسَلْنَا إِلَىٰ ثَمُودَ أَخَاهُمْ صَالِحًا أَنِ اعْبُدُوا اللَّهَ فَإِذَا هُمْ فَرِيقَانِ يَخْتَصِمُونَ ﴿٤٥﴾

၄၅။ ထိုမှတပါး ဧကန်မလွဲ ငါအရှင်မြတ်သည် 'ဆမူဒ်' အမျိုးသားတို့ထံ ၎င်းတို့၏နောင်တော် 'ဆွာလိဟ်' [၂] အား အသင်တို့သည် အလ္လာဟ်အရှင်မြတ်အား ဆည်းကပ်ကိုးကွယ်ကြရမည် (ဟူသောအမိန့်တော်နှင့်တကွ) စေလွှတ်တော်မူခဲ့၏။

➤➤ အရောင်အဆင်း ပုံပန်းသဏ္ဌာန် တစ်နည်းတစ်ဖုံ ပြောင်းလဲပစ်စေတော်မူခဲ့သည်။ ထို့နောက် ရှီဗာဘုရင်မအား အဆင်အယင်ပြောင်းလဲထားသော ၎င်း၏ရာဇပလ္လင်ကိုပြ၍ 'အသင်မ၏ ရာဇပလ္လင်သည် ဤကဲ့သို့ပင်လော' ဟုမေးရာ၊ ရှီဗာဘုရင်မသည် ဉာဏ်အမြော်အမြင် ထက်မြက်လှသည့်အတွက် အဆင်အယင်ပြောင်းလဲ ထားသော မိမိ၏ရာဇပလ္လင်ကို ကောင်းစွာရိပ်စားမိပြီး၊ 'ဤရာဇပလ္လင်မှာ ကျွန်မ၏ ရာဇပလ္လင်ကဲ့သို့ပင် ဖြစ်ပါသည်'ဟု မလွန်မယုတ် ဖြေကြားခဲ့လေသည်။ ဤသည် ရှီဗာဘုရင်မ၏ ဉာဏ်အမြော်အမြင် ထက်မြက်မှု၏အကျိုးပင်။

**(၁) ရှီဗာဘုရင်မအား မှန်ဗိမာန်ကိုပြသခြင်း။**

တမန်တော်စုလိုင်မာန်သည် ရှီဗာဘုရင်မအား မိမိ၏ အချို့ဘုန်းတန်ခိုးများကို ပြသပြီးနောက်၊ မိမိ၏လောကီစည်းစိမ် အရှိန်အဝါ ထည်ဝါခန့်ညားမှုများကို ပြသရန်အလို့ငှာ ဘုရင်မအား မှန်ဗိမာန်အတွင်းသို့ ခေါ်ဆောင်သွားစေခဲ့၏။

မှန်ဗိမာန်မှာ လက်ရာမြောက်လှ၏။ အလွန်ကြည်လင်သော မှန်များဖြင့် စီမံပြုလုပ်ထား၏။ မှန်ဗိမာန်အောက်တွင် ရေများအယဉ်ထွေထွေ စီးထွေလျက်ရှိ၏။ ငါးများ သွားလာလှုပ်ရှားလျက်ရှိ၏။ လက်ရာ၏ပြောင်မြောက်မှုကြောင့် အမှုမဲ့ကြည့်သော် မှန်ကို မတွေ့ရ၊ ရေများစီးထွေနေသည်ကိုသာ တွေ့ရ၏။ ရှီဗာဘုရင်မသည် မှန်ဗိမာန်အတွင်းသို့ ကြွသွားသည့်အခါ ရေများစီးထွေနေသည်ကို တွေ့မြင်ပြီး၊ ရေစိုမည်ကို စိုးရိမ်သည့်အတွက် ခြေသလုံးမှ ထဘီစကို အနည်းငယ် မလိုက်လေသည်။ ထိုအခါ တမန်တော်စုလိုင်မာန်က ဘုရင်မအား ဤသည် မှန်ဖြင့်ပြုလုပ်ထားသော မှန်ဗိမာန်ဖြစ်သည်။ ရေစိုမည်မဟုတ်ပါဟု ပြောပြလိုက်လေသည်။

ရှီဗာဘုရင်မသည် ယင်းသို့ဖြင့် တမန်တော်စုလိုင်မာန်၏ ဓမ္မစက်၊ အာဏာစက်၊ လောကီလောကုတ္တရာ အရှိန်အဝါ ထည်ဝါခန့်ညား ကြီးမားမှုများကို အံ့ချီးမဆုံး တွေ့မြင်ရသောအခါ၊ မိမိ၏စိတ်ကို မချုပ်တည်းနိုင်တော့ဘဲ 'အို- ကျွန်တော်မျိုးမ၏အရှင်၊ ကျွန်တော်မျိုးမသည် မိမိကိုယ်ကို မိမိ နှိပ်စက်ကလူ ပြုမိခဲ့ပါပြီ၊ (ယခုမူ) တမန်တော်စုလိုင်မာန်နှင့် အတူတကွ စကြာဝဠာအဝှန်းကို ဖန်ဆင်းမွေးမြူတော်မူသော အလ္လာဟ်အရှင်မြတ်အား ယုံကြည်မြတ်နိုးပါပြီ'ဟု ရင်ဖွင့်၍ အီမာန် ယုံကြည်လာခဲ့လေသည်။

(၂) တမန်တော် ဆွာလိဟ် (အလိုင်ဟစ္စလာမ်)နှင့် ဆမူဒ်အမျိုးသားများ၏အကြောင်း ကုရ်အာန်(၇း၇၃-၇၉)တွင် ပါရှိခဲ့ပေပြီ။ သက်ဆိုင်ရာအဖွင့်များလည်း ရေးသားခဲ့ပြီးဖြစ်သည်။

قَالَ يٰقَوْمِ لِمَ تَسْتَعْجِلُوْنَ بِالسَّيِّئَةِ قَبْلَ الْحَسَنَةِ ۚ لَوْلَا تَسْتَغْفِرُوْنَ اللّٰهَ لَعَلَّكُمْ تُرْحَمُوْنَ ﴿٤٦﴾

၄၆။ ထို 'ဆွာလိဟ်' က အို-ငါ၏အမျိုးသားတို့။ အသင်တို့သည် အဘယ်ကြောင့် ကရုဏာတော်၏ အလျင် အပြစ်ဒဏ်ကို အလျင်လိုကြသနည်း။ အသင်တို့သည် ကရုဏာပြုတော်မူခြင်း ခံကြရအံ့သောငှာ အဘယ်ကြောင့် အလ္လာဟ်အရှင်မြတ် အထံတော်၌ ချမ်းသာခွင့်ကို တောင်းခံခြင်း မပြုကြသနည်းဟု ပြောကြားခဲ့လေ၏။

قَالُوا اطَّيَّرْنَا بِكَ وَبِمَنْ مَّعَكَ ۚ قَالَ طٰٓئِرُكُمْ عِنْدَ اللّٰهِ بَلْ اَنْتُمْ قَوْمٌ تُفْتَنُوْنَ ﴿٤٧﴾

၄၇။ ထိုအမျိုးသားတို့က ကျွန်ုပ်တို့သည် အသင်အားဖြင့်လည်းကောင်း၊ အသင်၏ အပေါင်းပါတို့အားဖြင့်လည်းကောင်း၊ နိမိတ်ဆိုးကောက်ကြသည်ဟု ပြောဆိုခဲ့ကြကုန်၏။ (ထိုအခါ) ထို 'ဆွာလိဟ်'က အသင်တို့၏နိမိတ်ဆိုး(၏အကြောင်းရင်း)မှာ အလ္လာဟ်အရှင်မြတ်အထံတော်၌ပင် ရှိပေသည်။ ထိုသို့ အလျှင်းမဟုတ်။ စင်စစ်မှာကား အသင်တို့သည် စမ်းသပ်ခြင်းကို ခံကြရမည်ဖြစ်သော အမျိုးသားများပင် ဖြစ်ကြသည်ဟု ပြောကြားခဲ့ပေသတည်း။

وَكَانَ فِى الْمَدِيْنَةِ تِسْعَةُ رَهْطٍ يُّفْسِدُوْنَ فِى الْاَرْضِ وَلَا يُصْلِحُوْنَ ﴿٤٨﴾

၄၈။ ထို့ပြင် မြို့တွင်း၌ ယောကျ်ားကိုးယောက်ရှိခဲ့ကြရာ၊ ၎င်းတို့သည် တိုင်းပြည်ကို (စည်ကားသာယာအောင်)ပြုပြင်ကြခြင်းမရှိဘဲ၊ ဖျက်ဆီးမှုကိုသာ ပြုလုပ်လျက်ရှိ ကြကုန်၏။ ¹

(၁) အာယတ်တော်တွင်ပါရှိသော 'မဒီနဟ်'မြို့ဟူသည် 'ဟိဂျ်ရ်'မြို့ကို ဆိုလိုသည်။

အဆိုပါမြို့တွင် အကြောင်းအားလျော်စွာ လူကိုးယောက် ရှိခဲ့သည်။ ၎င်းတို့သည် တိုင်းပြည်တွင် ပြုပြင်မှုတစ်စုံတစ်ရာကိုမျှ မပြုလုပ်ခဲ့ကြပေ။ အမြဲတစေ ပျက်စီးရာ ပျက်စီးကြောင်းများကိုသာ ပြုလုပ်နေခဲ့ကြပေသည်။ တမန်တော်ဆွာလိဟ်၏ ကုလားအုတ်မကို သတ်ဖြတ်ရာတွင်လည်း၊ ထိုသူများသည် အများဆုံးကြိုးပမ်းခဲ့ကြပေသည်။ တမန်တော်ဆွာလိဟ်နှင့်တကွ ၎င်း၏နောက်လိုက် တပည့်သားတို့အား သတ်ဖြတ်ရန် အကြံကြီး ကြံခဲ့သူများမှာလည်း ဤသူများပင်ဖြစ်ကြပေသည်။ ထိုသို့ စိုးစဉ်းမျှ အကောင်းမဖက်၊ အဆိုးသက်သက်ကိုသာ ပြုလုပ်နေခဲ့ကြသည့်အတွက် ၎င်းတို့၏အကြောင်းကို အထူးတလည် ထုတ်ဖော်မိန့်ဆိုထားတော်မူခြင်း ဖြစ်သည်။

قَالُوْا تَقَاسَمُوْا بِاللّٰهِ لَنُبَيِّتَنَّهٗ وَاَهْلَهٗ ثُمَّ لَنَقُوْلَنَّ لِوَلِيِّهٖ مَا شَهِدْنَا مَهْلِكَ اَهْلِهٖ وَاِنَّا لَصٰدِقُوْنَ ﴿٤٩﴾

၄၉။ ၎င်းတို့က ပြောဆို(တိုင်ပင်)ခဲ့ကြကုန်၏။ အသင်တို့သည် အလ္လာဟ်အရှင်မြတ်အား တိုင်တည်၍ ထိုဆွာလိဟ်အားလည်းကောင်း၊ ထိုဆွာလိဟ်နှင့် ပတ်သက်သောသူတို့အားလည်းကောင်း၊ ညဥ့်အချိန်၌ သွားရောက်သတ်ဖြတ်ရန် ကျိန်ဆိုခဲ့ကြလေသည်။ ပြီးနောက် ထိုဆွာလိဟ်၏ အမွေစားအမွေခံတို့အား ၎င်းနှင့်ပက်သက်သောသူများ အသတ်ခံကြရသော အချိန်တွင် ကျွန်ုပ်တို့ တွေ့မြင်ခဲ့ကြသည် မဟုတ်ပေ။ ထို့ပြင် ဧကန်မလွဲ ကျွန်ုပ်တို့သည် သစ္စာဝါဒီများပင် ဖြစ်ကြသည်ဟု ပြောဆိုကြမည့်အကြောင်း အချင်းချင်း ပြောဆိုခဲ့ကြလေသည်။

وَمَكَرُوْا مَكْرًا وَّمَكَرْنَا مَكْرًا وَّهُمْ لَا يَشْعُرُوْنَ ﴿٥٠﴾

၅၀။ စင်စစ် ၎င်းတို့သည် အကြံအစည်တစ်ခုကို လျှို့ဝှက် ကြံစည်ခဲ့ကြကုန်၏။ ထိုနည်းတူစွာ ငါ အရှင်မြတ်သည်လည်း အကြံအစည်တစ်ခုကို ကြံစည်တော်မူခဲ့၏။ စင်စစ် ၎င်းတို့သည် (ဤသည်ကို) မသိကြပေ။

فَانْظُرْ كَيْفَ كَانَ عَاقِبَةُ مَكْرِهِمْ اَنَّا دَمَّرْنٰهُمْ وَقَوْمَهُمْ اَجْمَعِيْنَ ﴿٥١﴾

၅၁။ သို့ဖြစ်ပေရာ (အို-နဗီတမန်တော်၊) အသင်သည် ၎င်းတို့၏အကြံအစည်၏ နောက်ဆုံးအကျိုးသည် မည်သို့မည်ပုံ ဖြစ်ခဲ့သည်ကို ရှုပါလေ။ ဧကန်မုချ ငါအရှင်မြတ်သည် ထိုသူတို့အားလည်းကောင်း၊ ထိုသူတို့၏ အမျိုးသားတို့အား လည်းကောင်း၊ အားလုံးကိုပင် ဖျက်ဆီးတော်မူခဲ့ပေသည်။

فَتِلْكَ بُيُوْتُهُمْ خَاوِيَةً بِمَا ظَلَمُوْا اِنَّ فِيْ ذٰلِكَ لَاٰيَةً لِّقَوْمٍ يَّعْلَمُوْنَ ﴿٥٢﴾

၅၂။ ဤသည် ၎င်းတို့၏သွေဖည်မှုကြောင့် ပျက်စီးလျက်ရှိကြသော ၎င်းတို့၏ နေအိမ်များတည်း။ ဧကန်မလွဲ ဤသည့်(ဖြစ်ရပ်)၌ သိနားလည်ကြကုန်သောသူတို့အဖို့ (ကြီးကျယ်စွာသော) သက်သေလက္ခဏာသည် ရှိပေသည်။

وَأَنجَيْنَا الَّذِينَ آمَنُوا
وَكَانُوا يَتَّقُونَ ﴿٥٣﴾

၅၃။ ထိုမှတပါး ငါအရှင်မြတ်သည် 'အီမာန်' သက်ဝင်ယုံကြည်ပြီး (ပြစ်မှုဒုစရိုက်များမှ) ကြဉ်ရှောင်ကြကုန်သောသူတို့အား ကယ်ဆယ်တော်မူခဲ့ပေသတည်း။

وَلُوطًا إِذْ قَالَ لِقَوْمِهِ
أَتَأْتُونَ الْفَاحِشَةَ
وَأَنتُمْ تُبْصِرُونَ ﴿٥٤﴾

၅၄။ ထိုမှတပါးငါအရှင်မြတ်သည် 'လူတ်'[၁] အား (လည်းနဗီတမန်တော်အဖြစ် စေလွှတ်တော်မူခဲ့၏၊) အကြင်အခါဝယ် ထိုလူတ်က မိမိအမျိုးသားတို့အား ပြောကြားခဲ့လေ၏။ အသင်တို့သည် သိမြင်ကြလျက် စက်ဆုပ်ဖွယ်ရာအမှုကို ကျူးလွန်ကြလေသလော။

أَئِنَّكُمْ لَتَأْتُونَ الرِّجَالَ
شَهْوَةً مِّن دُونِ النِّسَاءِ ۚ
بَلْ أَنتُمْ قَوْمٌ تَجْهَلُونَ ﴿٥٥﴾

၅၅။ အသင်တို့သည် မိန်းမတို့အား စွန့်၍ ယောကျာ်းများထံ ကာမဂုဏ်ခံစားရန် လာကြလေသလော။ စင်စစ်မှာကား အသင်တို့သည် မိုက်မဲသော အမျိုးသားများပင် ဖြစ်ကြကုန်၏။

فَمَا كَانَ جَوَابَ قَوْمِهِ إِلَّا أَن
قَالُوا أَخْرِجُوا آلَ لُوطٍ مِّن
قَرْيَتِكُمْ ۖ إِنَّهُمْ أُنَاسٌ
يَتَطَهَّرُونَ ﴿٥٦﴾

၅၆။ ထိုအခါ ထိုလူတ်၏ အမျိုးသားတို့က မိမိတို့ အချင်းချင်း အသင်တို့သည် လူတ်နှင့်ပက်သက်သော သူတို့အား မိမိတို့မြို့ရွာမှနှင်ထုတ်ကြလေကုန်။ ဧကန်မလွဲ ၎င်းတို့သည် သန့်ရှင်းဟန်ဆောင်သူများပင် ဖြစ်ကြသည်ဟု ပြောဆိုခဲ့ကြသည်မှတပါး၊ ၎င်းတို့၌ အခြား အဖြေမရှိခဲ့ပေ။

فَأَنجَيْنَاهُ وَأَهْلَهُ إِلَّا
امْرَأَتَهُ قَدَّرْنَاهَا
مِنَ الْغَابِرِينَ ﴿٥٧﴾

၅၇။ သို့ဖြစ်ပေရာငါအရှင်မြတ်သည် ထိုလူတ်အား လည်းကောင်း၊ ထိုလူတ်နှင့်ပက်သက်သော သူတို့အား လည်းကောင်း၊ ကယ်ဆယ်တော်မူခဲ့၏။ သို့ရာတွင် ထိုလူတ်၏ဇနီးမှာမူ ငါအရှင်မြတ်သည် ၎င်းအား ကျန်ရစ်သူတို့တွင် သတ်မှတ်တော်မူခဲ့၏။

(၁) တမန်တော် လူတ်(အလိုင်ဟစ္စလာမ်)နှင့် ၎င်း၏ အမျိုးသားများအကြောင်း ကုရ်အာန် (၆း၈၇)တွင် အကျယ်ရေးသားခဲ့ပေပြီ။

وَأَمْطَرْنَا عَلَيْهِم مَّطَرًا ۖ
فَسَاءَ مَطَرُ الْمُنذَرِينَ ﴿٥٨﴾

၅၈။ ၎င်းပြင် ငါအရှင်မြတ်သည် ၎င်းတို့အပေါ်၌ မိုးတစ်မျိုးကို ရွာသွန်းစေတော်မူခဲ့၏။ စင်စစ် သတိပေးနှိုးဆော်ခြင်း ခံခဲ့ကြရသောသူတို့၏ မိုးမှာ အလွန်ဆိုးရွားခဲ့ပေသတည်း။

قُلِ الْحَمْدُ لِلَّهِ وَسَلَامٌ عَلَىٰ
عِبَادِهِ الَّذِينَ اصْطَفَىٰ ۗ
آللَّهُ خَيْرٌ أَمَّا يُشْرِكُونَ ﴿٥٩﴾

၅၉။ (အို–နဗီတမန်တော်) အသင်သည် ပြောကြားပါလေ။ ချီးမွမ်းထောပနာအပေါင်းတို့သည် အလ္လာဟ်အရှင်မြတ်နှင့်သာထိုက်၏။ ၎င်းပြင် ငြိမ်းချမ်းသာယာမှုသည် ထိုအရှင်မြတ်ရွေးချယ်တော်မူခဲ့သော ကျွန်များအပေါ်၌ရောက်ပါစေသား။ အလ္လာဟ်အရှင်မြတ်သည် သာ၍ မြင့်မြတ်တော်မူပါသလော၊ သို့တည်းမဟုတ် ၎င်းတို့(အလ္လာဟ်အရှင်မြတ်နှင့်) တွဲဖက် နှိုင်းယှဉ် ကိုးကွယ်ကြသောအရာများသည် (သာ၍ မြင့်မြတ်ကြလေသလော။)

أَمَّنْ خَلَقَ السَّمَاوَاتِ
وَالْأَرْضَ وَأَنزَلَ لَكُم
مِّنَ السَّمَاءِ مَاءً فَأَنبَتْنَا
بِهِ حَدَائِقَ ذَاتَ بَهْجَةٍ
مَّا كَانَ لَكُمْ أَن تُنبِتُوا
شَجَرَهَا ۗ أَإِلَٰهٌ مَّعَ اللَّهِ ۚ بَلْ
هُمْ قَوْمٌ يَعْدِلُونَ ﴿٦٠﴾

၆၀။ (ဤရုပ်တုများ မြင့်မြတ်သလော)။ သို့တည်းမဟုတ် အကြင်အရှင်မြတ်ပင် (မြင့်မြတ်တော်မူပါသလော)။ ထိုအရှင်မြတ်သည် မိုးကောင်းကင်များကိုလည်းကောင်း၊ ပထဝီမြေကိုလည်းကောင်း၊ ဖန်ဆင်းတော်မူခဲ့၏။ ထိုမှတပါးထိုအရှင်မြတ်သည် အသင်တို့အကျိုးငှာ မိုးကောင်းကင်မှ (မိုး)ရေကို ချပေးသနားတော်မူခဲ့၏။ တစ်ဖန် ငါအရှင်မြတ်သည် ထိုရေဖြင့် စိုပြည်သာယာသော ခြံဥယျာဉ်များကို ပေါက်ရောက်စေတော်မူခဲ့၏။

အသင်တို့၌မူကား ထိုခြံဥယျာဉ်များ၏ သစ်ပင်များကို ပေါက်ရောက်စေနိုင်စွမ်း မရှိပြီ။ အလ္လာဟ်အရှင်မြတ်နှင့်အတူ (အခြား) ဆည်းကပ် ကိုးကွယ်ရာဟူ၍ ရှိပါသေးသလော။ ထိုသို့ အလျှင်း မဟုတ်။

စင်စစ်မှာကား(၎င်းတို့သည် အမှန်တရားမှသွေဖည်သူများပင် ဖြစ်ကြကုန်သတည်း။) [(တစ်နည်း) ၎င်းတို့သည် (အခြားအရာများကို အလ္လာဟ်အရှင်မြတ်နှင့်) ဂုဏ်ရည်တူ ပြုလုပ်သူများပင် ဖြစ်ကြကုန်သတည်း၊)]

أَمَّنْ جَعَلَ الْأَرْضَ قَرَارًا وَجَعَلَ خِلَالَهَا أَنْهَارًا وَجَعَلَ لَهَا رَوَاسِيَ وَجَعَلَ بَيْنَ الْبَحْرَيْنِ حَاجِزًا ۗ أَإِلَٰهٌ مَعَ اللَّهِ ۚ بَلْ أَكْثَرُهُمْ لَا يَعْلَمُونَ ﴿٦١﴾

၆၁။ (ဤရုပ်တုများ မြင့်မြတ်သလော)။ သို့တည်းမဟုတ် အကြင်အရှင်မြတ်ပင် (မြင့်မြတ်တော်မူပါသလော။) ထိုအရှင်မြတ်သည် ပထဝီမြေကို မှီတင်းနေထိုင်ရာ ပြုလုပ်တော်မူခဲ့၏။ ၎င်းပြင် ထိုအရှင်မြတ်သည် ယင်းပထဝီမြေ၏အကြား၌ ရေချောင်းများကို ဖန်ဆင်းတော်မူခဲ့၏။ ၎င်းပြင် ထိုအရှင်မြတ်သည် ထိုပထဝီမြေ (တည်ငြိမ်စေရန်)အလို့ငှာ တောင်များကို (ကျောက်ဆူးများအဖြစ်)ဖန်ဆင်းတော်မူခဲ့၏ ထိုမှတပါး ထိုအရှင်မြတ်သည် မြစ်နှစ်ခု၏ အကြားဝယ် အတားအဆီးကို ပြုလုပ်တော်မူခဲ့၏။

အလ္လာဟ်အရှင်မြတ်နှင့်အတူ (အခြား) ဆည်းကပ် ကိုးကွယ်ရာဟူ၍ ရှိပါသေးသလော။ ထိုသို့အလျှင်း မဟုတ်။ စင်စစ်မှာကား ၎င်းတို့အနက် မြောက်မြားစွာသောသူတို့သည် မသိနားမလည်ကြပေ။

أَمَّنْ يُجِيبُ الْمُضْطَرَّ إِذَا دَعَاهُ وَيَكْشِفُ السُّوءَ وَيَجْعَلُكُمْ خُلَفَاءَ الْأَرْضِ ۗ أَإِلَٰهٌ مَعَ اللَّهِ ۚ قَلِيلًا مَا تَذَكَّرُونَ ﴿٦٢﴾

၆၂။ (ဤရုပ်တုများ မြင့်မြတ်သလော)။ သို့တည်းမဟုတ် အကြင်အရှင်မြတ်ပင် (မြင့်မြတ်တော်မူပါသလော။) ထိုအရှင်မြတ်သည် မိမိအား မလွှဲမရှောင်သာသောသူ (ဒုက္ခသည်)က ဟစ်ခေါ်(တမ်းတ)လေသောအခါ ၎င်းအားပြန်၍ ထူးတော်မူ၏။ ၎င်းပြင် ထိုအရှင်မြတ်သည် ဘေးဒုက္ခကိုလည်း ဖယ်ရှားတော်မူ၏။ ထိုမှတပါး ထိုအရှင်မြတ်သည် ကမ္ဘာမြေ၌ အသင်တို့အား ကိုယ်စားလှယ်များ ပြုလုပ်တော်မူ

၏။ အလ္လာဟ်အရှင်မြတ်နှင့်အတူ (အခြား) ဆည်းကပ်ကိုးကွယ်ရာဟူ၍ ရှိပါသေးသလော။ အသင်တို့သည်အနည်းငယ်မျှသာလျှင်စဉ်းစားကြကုန်သတည်း။

၆၃။ (ဤရုပ်တုများ မြင့်မြတ်သလော၊) သို့တည်းမဟုတ် အကြင်အရှင်မြတ်ပင် (မြင့်မြတ်တော်မူပါသလော။) ထိုအရှင်မြတ်သည် အသင်တို့အား ကုန်းမြေနှင့်သမုဒ္ဒရာပင်လယ်၏အမှောင်ထုများ၌ လမ်းညွှန်တော်မူ၏။ ထိုမှတပါး အကြင်အရှင်မြတ်သည် မိမိကရုဏာတည်းဟူသောမိုးမရွာမီ လေများကို ရှေ့ပြေးသတင်းကောင်းအဖြစ် စေလွှတ်တော်မူ၏။

أَمَّن يَهْدِيكُمْ فِي ظُلُمَٰتِ الْبَرِّ وَالْبَحْرِ وَمَن يُرْسِلُ الرِّيَٰحَ بُشْرًۢا بَيْنَ يَدَيْ رَحْمَتِهِۦٓ ۗ أَءِلَٰهٌ مَّعَ اللَّهِ ۚ تَعَٰلَى اللَّهُ عَمَّا يُشْرِكُونَ ﴿٦٣﴾

အလ္လာဟ်အရှင်မြတ်နှင့်အတူ (အခြား) ဆည်းကပ် ကိုးကွယ်ရာဟူ၍ ရှိပါသေးသလော။ အလ္လာဟ်အရှင်မြတ်သည်ကား ၎င်းတို့ နှိုင်းယှဉ် ကိုးကွယ်ကြသည်များထက် (အတိုင်းမရှိ) မြင့်မြတ်တော်မူဘိသတည်း။

၆၄။ (ဤရုပ်တုများ မြင့်မြတ်သလော၊) သို့တည်းမဟုတ် အကြင်အရှင်မြတ်ပင် (မြင့်မြတ်တော်မူပါသလော၊) ထိုအရှင်မြတ်သည် အဖန်ဆင်းခံတို့ကို (ပထမအကြိမ်) စတင်ဖန်ဆင်းတော်မူ၏။ ထို့နောက် ထိုအရှင်မြတ်သည်ပင် ထိုအဖန်ဆင်းခံတို့ကို တစ်ဖန်ထပ်မံ၍ ဖန်ဆင်းတော်မူပေသည်။ [၁] ထို့ပြင် အကြင်

أَمَّن يَبْدَؤُا الْخَلْقَ ثُمَّ يُعِيدُهُۥ وَمَن يَرْزُقُكُم مِّنَ السَّمَآءِ وَالْأَرْضِ ۗ أَءِلَٰهٌ مَّعَ

(၁) **အဲ့ချီးမဆုံးနိုင်သည့် ဤစကြဝဠာကြီးကို မည်သူဖန်ဆင်းထားသနည်း။**

မြင့်စွင့်လှသောဤမိုးနှင့် ထုထည်ကြီးမားလှသော ဤကမ္ဘာမြေကြီးကို မည်သူဖန်ဆင်းထားသနည်း။ ကောင်းကင်မှမိုးရေများကို အံ့ဖွယ်သရဲ မည်သူရွာသွန်းချသနည်း။ စိမ်းစိုသာယာလှသော ဥယျာဉ်ပန်းမန်များကို အံ့ချီးမဆုံး မည်သူပေါက်ရောက်စေသနည်း။ ပထဝီမြေကြီးကို မှီခိုနေထိုင်ရာအဖြစ် မည်သူ ပြုလုပ်ထားသနည်း။ ချောင်းများ၊မြစ်များကို အယဉ်တွေတွေ မည်သူ စီးတွေစေသနည်း။ ကြီးမားလှသော တောင်ကြီးများကို ▷▷

ٱللَّهِ ۚ قُلْ هَاتُوا بُرْهَانَكُمْ إِن كُنتُمْ صَادِقِينَ ﴿٦٤﴾

အရှင်မြတ်သည်အသင်တို့အား မိုးကောင်းကင်မှလည်းကောင်း၊ ပထဝီမြေမှလည်းကောင်း၊ စားနပ်ရိက္ခာချီးမြှင့်ပေးသနားတော်မူ၏။

အလ္လာဟ်အရှင်မြတ်နှင့်အတူ (အခြား) ဆည်းကပ် ကိုးကွယ်ရာဟူ၍ ရှိပါသေးသလော။ (အို-နဗီတမန်တော်၊) အသင်သည် ပြောကြားပါလေ။ (အချင်းတို့၊)အကယ်၍ အသင်တို့သည် သစ္စာဝါဒီများဖြစ်ကြလျှင် (ဤသည်နှင့်စပ်လျဉ်း၍) မိမိတို့၏ သက်သေသာဓကကို ယူဆောင်လာခဲ့ကြလေကုန်။

قُل لَّا يَعْلَمُ مَن فِي ٱلسَّمَٰوَٰتِ وَٱلْأَرْضِ ٱلْغَيْبَ إِلَّا ٱللَّهُ ۚ وَمَا يَشْعُرُونَ أَيَّانَ

၆၅။ အသင်သည် ပြောကြားပါလေ။ (အချင်းတို့) အကွယ်၌ရှိသော အရာများကို အလ္လာဟ်အရှင်မြတ်မှတပါး၊ မိုးကောင်းကင်၌ ရှိသူတို့သည်လည်းကောင်း၊ ပထဝီမြေ၌ရှိသူတို့သည်လည်းကောင်း၊ မည်သူတစ်ဦးတစ်ယောက်မျှပင် မသိချေ။ ထို့အတူ မိမိတို့သည်

---

➤➤ မည်သူတည်ထားသနည်း။ ပင်လယ်ကြီးများကို မည်သူခွဲထားသနည်း။ ဒုက္ခသည်၏ဒုက္ခကို မည်သူဖယ်ရှားပေး သနည်း။ ကမ္ဘာတွင် လူသားတို့အား ခြယ်လှယ်ခွင့် မည်သူပေးထားသနည်း။ ပင်လယ်ခရီး၊ ကုန်းကြောင်းခရီးများ တွင် မိုက်မှောင်သောအခါ မည်သူလမ်းညွှန်ပြသနည်း။ လေများကို မည်သူ တိုက်ခတ်စေသနည်း။ လူသားတို့အား ထက်အောက်မှ ရိက္ခာ မည်သူပေးသနည်း။ ဤသည်များကို လူသားများက ပြုလုပ်ထားသည်ဟူ၍ ဖြေမည်လော။ ကာဖိရ်၊ မုရှ်ရစ်က်တို့ မိမိတို့ကိုယ်တိုင် ပြုလုပ်ဆည်းကပ် ကိုးကွယ်နေကြသော ဘုရားများက ပြုလုပ်ထားသည်ဟူ၍ ဖြေမည်လော။ ဤသို့ကား မည်သူမျှ မဖြေဆိုခဲ့ပေ။ ဖြေဆိုကလည်း မှားမည်သာ။ အမှန်မှာ ဤသည်တို့ကို တစ်ဆူတည်းဖြစ်တော်မူသော ကြီးမားလှသော တန်ခိုးတော်ရှင် အလ္လာဟ်အရှင်မြတ်က ဖန်ဆင်းထားတော်မူခြင်းသာ ဖြစ်သည်။ ဤသည်တို့ကို ထိုအရှင်မြတ်သည်ပင် စတင်ဖန်ဆင်းတော်မူခဲ့ပေရာ၊ ဤသည်တို့ သေကျေပျက်စီးသွားပြီး နောက်ပိုင်းတွင်လည်း ထိုအရှင်မြတ်သည်ပင် တစ်ဖန် ပြန်လည်ဖန်ဆင်းတော်မူမည် ဖြစ်သည်။ ပထဝီမြေကြီးကို တည်ငြိမ်စေရန်အလို့ငှာ တောင်များကို ကျောက်ဆူးသဖွယ် တည်ထား ➤➤

يُبۡعَثُونَ ۝٦٥ မည်သည့်အချိန်အခါ၌ ရှင်ပြန်ထစေခြင်း ခံကြရမည်ကိုလည်း ၎င်းတို့ မသိကြပေ။ ^၁

---

➤➤ တော်မူသည့် အကြောင်း ကုရ်အာန်ကျမ်းမြတ်တွင် အများအပြားတွေ့ရှိရသည်။ ကြည့်-ကုရ်အာန် (၁၃း၃။ ၁၅း၁၉။ ၁၆း၁၅။ ၂၁း၃၁။ ၂၇း၆၁။ ၃၁း၁၀။ ၄၁း၁၀။ ၅၀း၇။ ၇၇း၂၇။ ၇၉း၃၂။) ဤအကြောင်းနှင့်စပ်လျဉ်း၍ (၁၃း၃။ ၁၅း၁၉။ ၁၆း၁၅။)၏ အဖွင့်များတွင် အကျယ်ရေးသားခဲ့ပေပြီ။

ပင်လယ်များကို အံ့ဖွယ်သရဲ ခွဲခြားထားတော် မူသည့်အကြောင်း ကုရ်အာန်(၂၅း၅၃။ ၅၅း၁၉)များတွင် အကျယ်ရေးသားခဲ့ပေပြီ။

**(၁) အလ္လာဟ်မှတစ်ပါး 'ဃိုက်ဗ်' ကို မည်သူမျှမသိ။**

အထက်တွင် အလ္လာဟ်အရှင်မြတ်၏ အတိုင်းအဆမရှိ တန်ခိုးတော်၊ ကရုဏာတော်နှင့် အံ့မဆုံး ဖန်ဆင်းမွေးမြူ စီမံခြယ်လှယ်ထားတော်မူသည့် အကြောင်းများကို မိန့်ဆိုထားတော်မူသည်။ အလ္လာဟ်အရှင်မြတ်သည် ယင်းသည့် တန်ခိုးတော် ဂုဏ်တော်များတွင် ဂုဏ်ရည်တူမရှိ၊ ပြိုင်ဘက် ယှဉ်ဘက်မရှိ။ တစ်ဆူတည်း၊ တစ်ပါးတည်း ဖြစ်တော်မူပေရာ၊ ခဝပ်ကိုးကွယ်ခြင်းကိုလည်း ထိုအရှင်မြတ် တစ်ပါးတည်းသာလျှင် ခံထိုက်တော်မူပေသည်။ ထို့ပြင်တစ်ဝ အလ္လာဟ်အရှင်မြတ်သည် အတိုင်းအဆမရှိ ဉာဏ်တော်ရှင်လည်း ဖြစ်တော်မူသည်။ အရာခပ်သိမ်းကုန်တို့ကို အကြွင်းမဲ့ သိတော်မူသည်။ 'ဃိုက်ဗ်' မျက်ကွယ်ရာ၌ ရှိသော အရာများကိုလည်း အကြွင်းမဲ့ သိတော်မူသည်။ အလ္လာဟ် မသိသောအရာဟူ၍ အလျှင်းမရှိ။ ဤသို့ အတိုင်းအဆမရှိ တန်ခိုးတော်၊ ဉာဏ်တော်အများနှင့် ပြည့်စုံတော်မူပေရာ၊ ခဝပ်ကိုးကွယ်ခြင်း အပေါင်းကိုလည်း အလ္လာဟ်အရှင် တစ်ပါးတည်း သာလျှင် ခံထိုက်တော်မူပေသည်။

'ဃိုက်ဗ်' ကို အလ္လာဟ်မှတစ်ပါး အခြားမည်သူမျှ မသိ။ 'ဃိုက်ဗ်' မျက်ကွယ်၌ရှိသော အရာများအနက် တစ်စိတ်တစ်ဒေသ အနည်းငယ်မျှကို အချို့ပုဂ္ဂိုလ်မွန်များ သိရှိကြခြင်းမှာလည်း မိမိတို့၏ အစွမ်းဖြင့် သိရှိကြသည် မဟုတ်ပေ၊ အလ္လာဟ်အရှင်မြတ်က အသိပေးတော်မူခြင်းကြောင့် သိရှိကြခြင်းသာလျှင် ဖြစ်ပေသည်။ ထိုသို့ အလ္လာဟ်အရှင်မြတ်၏ အသိပေးတော်မူခြင်းဖြင့် ဃိုက်ဗ် တစ်စိတ်တစ်ဒေသမျှ သိရှိသော သူများကိုလည်း 'အာလိမုလ်ဃိုက်ဗ်' ဃိုက်ဗ်သိသူများဟူ၍ အသို့မျှမခေါ်ဆိုနိုင်ပေ။

'ဃိုက်ဗ်'အကြောင်းနှင့် စပ်လျဉ်း၍ ကုရ်အာန်(၂း၃)တွင်လည်းကောင်း၊ ကုရ်အာန်(၆း၅၉)တွင် လည်းကောင်း၊ ကုရ်အာန်(၇း၁၈၇-၁၈၈)တွင် လည်းကောင်း အကျယ်ဖွင့်ဆို ရေးသားခဲ့ပေပြီ။

**မှတ်ချက်။** ။ 'ဃိုက်ဗ်' သိခြင်းဟူသည် အတွေးအထင် အမှန်းအဆများကို ဆိုလိုသည်လည်း မဟုတ်၊ သက်သေသာဓက အထောက်အထားများဖြင့် ဆည်းပူးရရှိသော အသိကို ဆိုလိုသည်လည်းမဟုတ်။ သက်သေသာဓက အထောက်အထား လုံးဝမရှိသော အသိကိုသာ ဆိုလိုသည်။

بَلِ ادّٰرَكَ عِلْمُهُمْ فِى الْاٰخِرَةِ ۚ بَلْ هُمْ فِىْ شَكٍّ مِّنْهَا ۚ بَلْ هُمْ مِّنْهَا عَمُوْنَ ﴿٦٦﴾

၆၆။ စင်စစ်မှာကား ‘အာခိရတ်’ တမလွန်ဘဝနှင့် စပ်လျဉ်း၍ ၎င်းတို့၏ အသိပညာမှာ ပျောက်ပျက်၍ သွားချေပြီ။ ထိုသို့အလျှင်းမဟုတ်။ စင်စစ်မှာကား ၎င်းတို့သည် ထို‘အာခိရတ်’တမလွန်ဘဝနှင့်စပ်လျဉ်း၍ ဒွိဟသံသယ၌ပင် ရှိနေကြကုန်၏။ ထိုသို့ အလျှင်း မဟုတ်။ စင်စစ်မှာကား၎င်းတို့သည် ယင်း ‘အာခိရတ်’ တမလွန်ဘဝဘက်မှ မျက်စိကန်းနေသူများပင် ဖြစ်ကြကုန်သတည်း။

وَقَالَ الَّذِيْنَ كَفَرُوْٓا ءَاِذَا كُنَّا تُرٰبًا وَّاٰبَآؤُنَآ اَئِنَّا لَمُخْرَجُوْنَ ﴿٦٧﴾

၆၇။ စင်စစ် ‘ကာဖိရ်’ သွေဖည်ငြင်းပယ်ခဲ့ကြကုန်သောသူတို့က ကျွန်ုပ်တို့သည် မြေကြီးဖြစ်သွားခဲ့ကြသည့်အခါ အလားတူ ကျွန်ုပ်တို့၏အဘ၊ ဘိုးဘေးတို့သည်လည်း (မြေကြီး ဖြစ်သွားခဲ့ကြသည့်အခါ) ကျွန်ုပ်တို့သည် (သင်္ချိုင်းတွင်းမှ) ထွက်စေခြင်းကို ခံကြရဦးမည်လော။

لَقَدْ وُعِدْنَا هٰذَا نَحْنُ وَاٰبَآؤُنَا مِنْ قَبْلُ ۙ اِنْ هٰذَآ اِلَّآ اَسَاطِيْرُ الْاَوَّلِيْنَ ﴿٦٨﴾

၆၈။ ဧကန်မလွဲ ဤသည်ကို ကျွန်ုပ်တို့သည်လည်းကောင်း၊ ကျွန်ုပ်တို့၏အဘ၊ ဘိုးဘေးတို့သည်လည်းကောင်း၊ ရှေးယခင်ကပင် ကတိပေး (ခြိမ်းခြောက်ပြောဆို)ခြင်းကို ခံခဲ့ကြရလေသည်။ ဤသည် ရှေးသူဟောင်းတို့၏ အခြေအမြစ်မရှိသော ပုံပြင်များသာ ဖြစ်ကြပေသည်။

قُلْ سِيْرُوْا فِى الْاَرْضِ فَانْظُرُوْا كَيْفَ كَانَ عَاقِبَةُ الْمُجْرِمِيْنَ ﴿٦٩﴾

၆၉။ (အို-နဗီတမန်တော်၊) အသင်သည် ပြောကြားပါလေ။ (အချင်းတို့၊) အသင်တို့သည် ကမ္ဘာမြေ၌ လှည့်လည်သွားလာကြပြီးလျှင်၊ အပြစ်ထင်ရှားသောသူတို့၏ နောက်ဆုံးအကျိုးဆက် မည်သို့ဖြစ်ခဲ့သည်ကို ကြည့်ရှုကြလေကုန်။

وَلَا تَحْزَنْ عَلَيْهِمْ وَلَا تَكُنْ
فِيْ ضَيْقٍ مِّمَّا يَمْكُرُوْنَ ۝٧٠

၇၀။ ထို့ပြင် အသင်သည် ၎င်းတို့နှင့် ပက်သက်၍ မပူဆွေးလေနှင့်။ ထိုမှတပါး အသင်သည် ၎င်းတို့၏ လျှို့ဝှက်ကြံစည်မှုကြောင့် စိတ်ဆင်းရဲခြင်းလည်း မဖြစ်လေနှင့်။

وَيَقُوْلُوْنَ مَتٰى هٰذَا الْوَعْدُ
اِنْ كُنْتُمْ صٰدِقِيْنَ ۝٧١

၇၁။ ထိုမှတပါး ၎င်းတို့က အကယ်၍ အသင်တို့သည် သစ္စာဝါဒီများဖြစ်ကြပါလျှင် ဤချိန်းဆိုချက်သည် မည်သည့်အခါ၌ ပြီးမြောက်ပါမည်နည်းဟု ဆိုကြကုန်၏။

قُلْ عَسٰٓى اَنْ يَّكُوْنَ
رَدِفَ لَكُمْ بَعْضُ الَّذِيْ
تَسْتَعْجِلُوْنَ ۝٧٢

၇၂။ (အို-နဗီတမန်တော်၊)အသင်ပြောကြားပါလေ၊ (အချင်းတို့၊) အသင်တို့ အလျင်စလို လိုလားလျက်ရှိကြသောပြစ်ဒဏ် တစ်စိတ်တစ်ဒေသသည် မဝေးတော့ပြီ။ အသင်တို့၏ နောက်မှပင် (ထပ်ကြပ်မကွာ) လိုက်လာခဲ့လေပြီ။

وَاِنَّ رَبَّكَ لَذُوْ فَضْلٍ عَلَى
النَّاسِ وَلٰكِنَّ اَكْثَرَهُمْ لَا
يَشْكُرُوْنَ ۝٧٣

၇၃။ ၎င်းပြင် ဧကန်အမှန် အသင်တို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်သည် လူတို့အပေါ်၌ အလွန်ကျေးဇူးပြုတော်မူသောအရှင် အမှန်ပင်ဖြစ်တော်မူ၏။ သို့ရာတွင် ထိုလူတို့အနက် များစွာသောသူတို့မှာ ကျေးဇူးမသိတတ်ကြပေ။

وَاِنَّ رَبَّكَ لَيَعْلَمُ مَا تُكِنُّ
صُدُوْرُهُمْ وَمَا يُعْلِنُوْنَ ۝٧٤

၇၄။ ထိုမှတပါး အသင့်အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်သည် ထိုသူတို့၏ ရင်များက လျှို့ဝှက်ထားကြသည်တို့ကိုလည်းကောင်း၊ ထိုသူတို့ ထင်ရှားစေကြသည်တို့ကိုလည်းကောင်း၊ အမှန်ပင် သိရှိတော်မူ၏။

وَمَا مِنْ غَآئِبَةٍ فِي السَّمَآءِ
وَالْاَرْضِ اِلَّا فِيْ كِتٰبٍ

၇၅။ စင်စစ်သော်ကား မိုးကောင်းကင်၌ လည်းကောင်း၊ ပထဝီမြေ၌လည်းကောင်း၊ လျှို့ဝှက်သော အရာဟူ၍ မရှိချေ။ သို့ရာတွင် (ထိုအရာသည်)

مُّبِينٍ ﴿٧٥﴾

ထင်ရှားစွာသော(မှတ်တမ်းတော်)စာအုပ်တွင် မှတ်သား ထားပြီး ဖြစ်ပေသတည်း။

إِنَّ هَٰذَا الْقُرْآنَ يَقُصُّ عَلَىٰ بَنِي إِسْرَائِيلَ أَكْثَرَ الَّذِي هُمْ فِيهِ يَخْتَلِفُونَ ﴿٧٦﴾

၇၆။ စကန်မလွဲ ဤကုရ်အာန်ကျမ်းမြတ်သည် အီစ်ရာအီလီ အမျိုးသားတို့ရှေ့ဝယ်၊ ၎င်းတို့ကွဲလွဲ နေကြကုန်သော အကြောင်းအရာများအနက်မှ များစွာ သော အကြောင်းအရာများကို ဖော်ပြလေ၏။ ၁

وَإِنَّهُ لَهُدًى وَرَحْمَةٌ لِّلْمُؤْمِنِينَ ﴿٧٧﴾

၇၇။ ၎င်းပြင် စကန်မလွဲ ယင်းကုရ်အာန်ကျမ်းမြတ် သည် 'မုအ်မင်န်' သက်ဝင်ယုံကြည်သူတို့ အဖို့ တရားလမ်းညွှန်သည်လည်းကောင်း၊ ကရုဏာတော် သည်လည်းကောင်း၊ ဖြစ်လေ၏။

إِنَّ رَبَّكَ يَقْضِي بَيْنَهُم بِحُكْمِهِ ۚ وَهُوَ الْعَزِيزُ الْعَلِيمُ ﴿٧٨﴾

၇၈။ မလွဲစကန် အသင့်အား ဖန်ဆင်းမွေးမြူတော် မူသော အရှင်မြတ်သည် ၎င်းတို့၏ အကြားဝယ်၊ မိမိ အမိန့်တော်ဖြင့် စီရင်ဆုံးဖြတ်တော်မူပေမည်။ စင်စစ်သော်ကား ထိုအရှင်မြတ်သည် အလွန်တရာ လွှမ်းမိုးတော်မူသော အရှင်၊ အရာခပ်သိမ်းတို့ကို အကြွင်းမဲ့ သိရှိတော်မူသောအရှင် ဖြစ်တော်မူ၏။

---

(၁) **ကုရ်အာန်ကျမ်းမြတ်၏ ကျေးဇူး။**

အစ္စရာအီလီမျိုးနွယ်ဝင် ပညာရှင်များသည် မိမိတို့၏ခေတ်တွင် အကျော်အမော်များဖြစ်ခဲ့ကြ၏။ သို့တစေလည်း ၎င်းတို့သည် ယုံကြည်ချက်၊ အမိန့်ပညတ်၊ အတိတ်ခေတ်ဖြစ်ရပ်များနှင့် စပ်လျဉ်း၍ အမျိုးမျိုး ကွဲပြားနေခဲ့ကြ၏။ မိမိတို့၏ အာသာဆန္ဒအလျောက် ကျမ်းဂန်လာ တရားတော်များတွင် အချို့ကို နှုတ်ပယ်ထားခဲ့ကြ၏။ အချို့ကို ဖြည့်စွက်ထားခဲ့ကြ၏။ ကုရ်အာန်ကျမ်းမြတ်သည် ၎င်းတို့၏ ယင်းသည့် ကွဲပြားမှုများနှင့် ဖြည့်စွက်နှုတ်ပယ်မှုများအနက် များစွာသော အရာများကို မှန်ကန်တိကျပြတ်သားစွာ လင်းပြထားလေသည်။ ဤသည် ကုရ်အာန်ကျမ်းမြတ်၏ ကျေးဇူးပင်။

ဖြေရှင်းပေးသူသည် ဖြေရှင်းပေးခြင်း ခံရသူများထက် ပညာအရာတွင် သာပိုရမည်သာဖြစ်သည်။ ဖြေရှင်းပေးသူသည် ဖြေရှင်းပေးနိုင်ရန် လိုအပ်သည့် အသိပညာများကို အလ္လာဟ်အရှင်မြတ် ထံတော်မှသော် လည်းကောင်း၊ လူသားတို့ထံမှသော် လည်းကောင်း ရရှိရပေမည်။

တမန်တော်မြတ်သည် ယင်းသည့်အသိပညာများကို လူသားတို့မှ မရရှိခဲ့သည်မှာ အထင်အရှားပင်။ အမှန်မှာ တမန်တော်မြတ်သည် ယင်းသည့်အသိပညာများကို အလ္လာဟ်အရှင်မြတ်ထံတော်မှသာ ရရှိခဲ့ပေသည်၊ ➤➤

فَتَوَكَّلْ عَلَى اللَّهِ ۖ إِنَّكَ عَلَى الْحَقِّ الْمُبِينِ ﴿٧٩﴾

၇၉။ သို့ဖြစ်ပေရာ (အိုနဗီတမန်တော်၊) အသင်သည် အလ္လာဟ်အရှင်မြတ်အပေါ်၌ ယုံပုံလွှဲအပ်ပါလေ။ ဧကန်မလွဲ အသင်သည် ထင်ရှားစွာသောအမှန်တရားအပေါ်၌ပင် တည်ရှိနေပေသည်။

إِنَّكَ لَا تُسْمِعُ الْمَوْتَىٰ وَلَا تُسْمِعُ الصُّمَّ الدُّعَاءَ إِذَا وَلَّوْا مُدْبِرِينَ ﴿٨٠﴾

၈၀။ ဧကန်စင်စစ် အသင်သည် သူသေတို့အား ကြားစေနိုင်သည်မဟုတ်ပေ။ ထိုနည်းတူစွာ နားပင်းသူတို့အားလည်း ၎င်းတို့သည် ကျောခိုင်းကြလျက် ပြန်၍ လှည့်သွားကြသောအခါ အသင်သည် ကြားစေနိုင်သည် မဟုတ်ပေ။

وَمَا أَنتَ بِهَادِي الْعُمْيِ عَن ضَلَالَتِهِمْ ۖ إِن تُسْمِعُ إِلَّا مَن يُؤْمِنُ بِآيَاتِنَا فَهُم مُّسْلِمُونَ ﴿٨١﴾

၈၁။ ထိုမှတပါးအသင်သည် မျက်စိကန်းသူတို့အားလည်း ၎င်းတို့၏ လမ်းလွဲမှုမှ (တရားလမ်းမှန်သို့ ရောက်ရှိအံ့သောငှာ) လမ်းညွှန်နိုင်သူ မဟုတ်ပေ။ ငါ အရှင်မြတ်၏ အာယတ်တော်များကို ယုံကြည်ပြီးနောက် အမိန့်တော်ကို လိုက်နာသူတို့အားသာလျှင် အသင် ကြားစေနိုင်သည် ဖြစ်ပေသတည်း။

وَإِذَا وَقَعَ الْقَوْلُ عَلَيْهِمْ أَخْرَجْنَا لَهُمْ دَابَّةً مِّنَ الْأَرْضِ تُكَلِّمُهُمْ أَنَّ النَّاسَ كَانُوا بِآيَاتِنَا لَا يُوقِنُونَ ﴿٨٢﴾

၈၂။ စင်စစ်သော်ကား ချိန်းဆိုချက်သည် ၎င်းတို့အပေါ်၌ကျရောက်လာသောအခါ ငါအရှင်မြတ်သည် ၎င်းတို့အဖို့ *မြေကြီးမှ အကြင်တိရစ္ဆာန်ကို ထွက်စေတော်မူမည်။* [၁] ထိုတိရစ္ဆာန်သည် ၎င်းတို့နှင့် စကားပြောဆိုမည်ဖြစ်သည်။ အဘယ်ကြောင့်ဆိုသော် လူတို့သည် ငါအရှင်မြတ်၏ သက်သေလက္ခဏာများကို မယုံကြည်ခဲ့ကြသောကြောင့်ပင်။

---

➤➤ ဤသည်ကို ထောက်ရှုခြင်းအားဖြင့် တမန်တော်မြတ်သည် အလ္လာဟ်အရှင်မြတ်၏ တမန်တော်ဖြစ်ကြောင်း၊ ကုရ်အာန်ကျမ်းမြတ်သည် အလ္လာဟ်အရှင်မြတ်၏ အာယတ်တော်ဖြစ်ကြောင်း၊ အလ္လာဟ်အရှင်မြတ်၏ အာယတ်တော်များသည် အမှန်အကန်ချည်းသာဖြစ်ပေရာ၊ ကိယာမတ်နှင့်စပ်လျဉ်း၍ ကုရ်အာန်ကျမ်းလာ မိန့်ဆိုချက်များသည်လည်း လုံးဝမှန်ကန်ကြောင်း ကောင်းစွာသိရှိရပေသည်။

(၁) **ကိယာမတ် ဖြစ်ခါနီး ထွက်ပေါ်လာမည့် အံ့ဖွယ်တိရစ္ဆာန်**

ကိယာမတ်ဖြစ်ရန် နီးကပ်လာသည့်အခါ ဖြစ်ပေါ်လာမည့် နိမိတ်လက္ခဏာများအကြောင်းကို ➤➤

وَيَوْمَ نَحْشُرُ مِنْ كُلِّ أُمَّةٍ فَوْجًا مِّمَّنْ يُكَذِّبُ بِاٰيٰتِنَا فَهُمْ يُوزَعُوْنَ ﴿٨٣﴾

၈၃။ ထိုမှတပါး အကြင်နေ့တွင် ငါအရှင်မြတ်သည် အုပ်စုအသီးသီးတို့အနက် ငါအရှင်မြတ်၏ အာယတ်တော်များကို မဟုတ်မမှန်ဟု စွပ်စွဲငြင်းပယ်ကြကုန်သောသူတို့အား တစ်အုပ်စုစီကို စုရုံးစေတော်မူမည်။ တစ်ဖန် ၎င်းတို့သည် စီတန်းရပ်စေခြင်းကို ခံကြရပေမည်။

حَتّٰىٓ إِذَا جَآءُوْ قَالَ أَكَذَّبْتُمْ بِاٰيٰتِيْ وَلَمْ تُحِيْطُوْا بِهَا عِلْمًا أَمَّاذَا كُنْتُمْ تَعْمَلُوْنَ ﴿٨٤﴾

၈၄။ နောက်ဆုံးတွင် ၎င်းတို့သည် (အလ္လာဟ်အရှင်မြတ်၏ရှေ့တော်မှောက်သို့) ရောက်ရှိ၍ လာခဲ့ကြသောအခါ ထိုအရှင်မြတ်က အသင်တို့သည် ငါအရှင်မြတ်၏အာယတ်တော်များကို မိမိတို့ အသိပညာအားဖြင့် ယင်းအာယတ်တော်များ ဝန်းခြံခြင်းမရှိကြသေးမီပင် မဟုတ်မမှန်ဟူ၍ စွပ်စွဲငြင်းပယ်ခဲ့ကြလေသလော။ သို့တည်းမဟုတ် အသင်တို့သည် မည်သည်တို့ကို ပြုလုပ်လျက်ရှိခဲ့ကြသနည်းဟု မိန့်ကြားတော်မူပေမည်။

وَوَقَعَ الْقَوْلُ عَلَيْهِمْ بِمَا ظَلَمُوْا فَهُمْ لَا يَنْطِقُوْنَ ﴿٨٥﴾

၈၅။ ၎င်းနောက် (ထိုအချိန်အခါတွင်) ၎င်းတို့၏ ကျူးလွန်ခဲ့ကြခြင်းကြောင့် ကတိချိန်းဆိုချက်သည် ၎င်းတို့အပေါ်၌ အတည်ဖြစ်ပြီး ဖြစ်ပေရာ၊ ၎င်းတို့မှာ စကား ပြောဆိုနိုင်ကြမည် မဟုတ်ပေ။

---

➤➤ ဟဒီးဆ်ဩဝါဒတော်ဆိုင်ရာ ကျမ်းကြီးများတွင် အများအပြား တွေ့ရှိရပေသည်။ ယင်းသည့် နိမိတ်လက္ခဏာများတွင် အနောက်မှနေထွက်ခြင်း၊ 'ဒုခါန်' မီးခိုးထွက်ပေါ်ခြင်း၊ ယာဂျူဂျ်၊မာဂျူဂျ် ထွက်ပေါ်ခြင်း၊ တမန်တော်အီစာ ပြန်လည်ပွင့်ပေါ်ခြင်း၊ ဒဂ်ဂျာလ် ပေါ်ခြင်း၊ မီးကြီးထွက်ပေါ်ခြင်း၊ အံ့ဖွယ်တိရစ္ဆာန် ထွက်ပေါ်ခြင်းများလည်း ပါဝင်ပေသည်။

ကိယာမတ်၏ နိမိတ်လက္ခဏာများအနက် ထူးခြားသော လက္ခဏာတစ်ရပ်မှာ ကိယာမတ်ဖြစ်အံ့ဆဲဆဲအချိန်တွင် အံ့ဖွယ်သရဲ မြေမှ တိရစ္ဆာန်ကြီးတစ်ကောင်၊ (အချို့အဆိုအရ တိရစ္ဆာန်တစ်မျိုး) ထွက်ပေါ်လာပေမည်။ ပုံပန်းသဏ္ဌာန်မှာ အံ့မဆုံးဖြစ်ပေမည်။ လူများနှင့် စကားပြောပေမည်။ မုအ်မင်န်နှင့် ကာဖိရ်ကို အမှတ်အသားပြုလုပ်၍ ခွဲခြားပေးပေမည်။ အချို့အဆိုများအရ အဆိုပါတိရစ္ဆာန်သည် ကမ္ဘာနောက်ဆုံးအချိန်မှာ အနောက်မှနေထွက်သည့်နေ့တွင် ထွက်ပေါ်လာပေမည်။

اَلَمْ يَرَوْا اَنَّا جَعَلْنَا الَّيْلَ لِيَسْكُنُوْا فِيْهِ وَالنَّهَارَ مُبْصِرًا ؕ اِنَّ فِيْ ذٰلِكَ لَاٰيٰتٍ لِّقَوْمٍ يُّؤْمِنُوْنَ ﴿٨٦﴾

၈၆။ အသို့ပါနည်း။ကေန်စင်စစ် ငါအရှင်မြတ်သည် ညဉ့်ကို ထိုသူတို့ ယင်းညဉ့်၌ အနားယူကြအံ့သောငှာလည်းကောင်း၊ နေ့ကို မြင်နိုင်စွမ်းပေးသောအရာ အဖြစ်လည်းကောင်း၊ ပြုလုပ်တော်မူခဲ့သည်ကို ၎င်းတို့သည် မမြင်ခဲ့ကြလေသလော၊ ဧကန်မလွဲ ဤသည်၌ 'မုအ်မင်န်' သက်ဝင်ယုံကြည်သူတို့အဖို့ (ကြီးကျယ်လှစွာသော) သက်သေလက္ခဏာများသည် အမှန်ပင် ရှိကုန်သတည်း။ ၁

---

(၁) **နေ့ညဉ့်ဖြစ်ပုံ အံ့မကုန်။**

အလ္လာဟ်အရှင်မြတ်သည် လူသားတို့ စဉ်းစားဆင်ခြင် မြော်မြင်နိုင်ရန်အလို့ငှာ၊ လူသား၏ပတ်ဝန်းကျင်တွင် လူသား၏ ရှေ့မှောက်တွင်ပင် သက်သေလက္ခဏာ အမျိုးမျိုးအစားစား၊ အပြားပြား အမြောက်အမြား ပြထားတော်မူသည်။ လူသားတို့ မှီတင်းနေထိုင်ရာ ဤစကြာဝဠာကြီးကို စဉ်းစားဆင်ခြင် မြော်မြင်ကြည့်ရှုပါက ကမ္ဘာ့ဝန်ထမ်းများ ဖြစ်ကြသည့် မိုး၊မြေ၊နေ၊လ၊နက္ခတ်တာရာ စသည်တို့သည် အံ့ဖွယ်သရဲ စံနစ်တကျ မနားမနေ လှုပ်ရှားသွားလာလျက် ရှိကြပေသည်။ မိုးနှင့်မြေ မရှိမဖြစ်၊ နေနှင့်လ မရှိမဖြစ်၊ မြေ၊ရေ၊လေ၊မီး မရှိမဖြစ်၊ နေ့နှင့်ညဉ့် မရှိမဖြစ်။

ယခုမူ ဤစကြာဝဠာကြီးတွင် လူသားတို့အဖို့ လိုအပ်သော အရာအားလုံးတို့သည် လိုလေသေးမရှိ အားလုံးရှိနေပေသည်။ လူသားတို့ စားသုံးရန်အလို့ငှာ ကမ္ဘာမြေကြီးသည် သီးပွင့်မျိုးစုံတို့ကိုလည်း သီးပွင့်ပေးလျက် ရှိပေသည်။ ကမ္ဘာ့အိမ်ထောင်စုကြီး တစ်ခုလုံးသည် လူသားအား ဝိုင်းဝန်းပြုစုလျက်ရှိပေသည်။ ဤသည်တို့ကား အလ္လာဟ်အရှင်မြတ် ပြုစီရင်ထားတော်မူသည့် ကျေးဇူးတော်များပင်၊ သက်သေလက္ခဏာတော်များပင်။

လူသားသည် အခြားအခြားသော သက်သေလက္ခဏာများကို ထားဘိဦး။ မိမိကိုယ်တိုင် နေ့စဉ်နှင့်အမျှ တွေ့မြင်နေရသော နေ့နှင့်ညဉ့် ဖြစ်ပေါ်ပြောင်းလဲနေပုံကိုပင် စဉ်းစားဆင်ခြင် မြော်မြင်ပါက တောင်ဟီးဒ်၊ ရီစာလတ်နှင့် ကိယာမတ်ကို ကောင်းစွာ သဘောပေါက်နိုင်ပေသည်။ တရားရနိုင်ပေသည်။ ကြည့်-ကုရ်အာန် (၂၅း၆၂။ ၃၆း၃၇-၄၀)။

လူသားတို့သည် ညဉ့်တွင် အပန်းဖြေကြသည်။ အိပ်စက်ကြသည်။ နေ့တွင်နိုးထကြသည်၊ သွားလာလှုပ်ရှားကြသည်။ စဉ်းစားဆင်ခြင်ပါက အိပ်စက်ခြင်းသည် တစ်နည်းအားဖြင့် သေခြင်းတစ်မျိုးပင်။ အိပ်စက်ရာမှ နိုးထခြင်းသည် တစ်နည်းအားဖြင့် ပြန်လည်ရှင်ခြင်းတစ်မျိုးပင်။ တစ်နည်းအားဖြင့် လူသားတို့သည် ညဉ့်တိုင်းသေ၍၊ နေ့တိုင်း ရှင်ထလျက်ရှိကြပေသည်။ ထို့အတူ အလ္လာဟ်အရှင်မြတ်သည် လူသားတို့အား သေစေပြီးနောက် ကိယာမတ်နေ့တွင် ရှင်ပြန်ထစေတော် မူမည်ဖြစ်သည်။ မရှိကို အရှိဖြစ်အောင် ပြုလုပ်တော်မူသော အရှင်သည်၊ အရှိကို မရှိဖြစ်အောင်လည်း ပြုလုပ်တော်မူနိုင်ပေသည်။ ထိုသို့သော အရှင်မြတ်အဖို့ မရှိဖြစ်သွားသော အရာကို တစ်ဖန် အရှိဖြစ်အောင်ပြုလုပ်ရန်မှာ အဘယ်မှာလျှင် အခက်အခဲရှိနိုင်အံ့နည်း။ စဉ်းစားဆင်ခြင် မြော်မြင်ကြည့်ရှုနားလည် ယုံကြည်လိုသူများအဖို့ ဤသည့်နေ့နှင့်ညဉ့်၏ ဖြစ်ပေါ်ပြောင်းလဲနေပုံတွင်ပင် တရားရရာ ရကြောင်း ဆေးနည်းကောင်း ရှိနေပေသည်။ ကိယာမတ်ကို တွေးမြင်နိုင်ပေသည်။

၈၇။ ၎င်းပြင် တံပိုးခရာမှုတ်သောနေ့တွင် အလ္လာဟ်အရှင်မြတ် အလိုရှိတော်မူသောသူမှတပါး မိုးကောင်းကင်များ၌ ရှိသူတို့သည်လည်းကောင်း၊ ပထဝီမြေ၌ ရှိသူတို့သည်လည်းကောင်း၊ ထိတ်လန့်၍သွားကြပေမည်။ ထိုမှတပါး အားလုံးတို့သည် ဂုဏ်သိန်နိမ့်ကျလျက် ထိုအရှင်မြတ်အထံတော်သို့ ရောက်ရှိ၍ လာကြကုန်အံ့။ ၁

وَيَوْمَ يُنْفَخُ فِي الصُّوْرِ فَفَزِعَ مَنْ فِي السَّمٰوٰتِ وَمَنْ فِي الْأَرْضِ إِلَّا مَنْ شَاءَ اللّٰهُ ۚ وَكُلٌّ أَتَوْهُ دٰخِرِيْنَ ﴿٨٧﴾

၈၈။ ထိုမှတပါး အသင်သည် တောင်များကို တွေ့မြင်လေ၏။ အသင်သည် ယင်းတောင်များကို အစိုင်အခဲများဖြစ်သည် ထင်မှတ်ပေ၏။ သို့ရာတွင် (ထိုနေ့တွင်) ယင်းတောင်များမှာ မိုးတိမ်များ လွင့်ပါးဘိသကဲ့သို့ပင် လွင့်ပါး၍ သွားပေမည်။ (ဤသည်) အရာခပ်သိမ်းတို့ကို ခိုင်ခံ့အောင်ပြုလုပ်တော်မူသော အလ္လာဟ်အရှင်မြတ်၏ လက်စွမ်းလက်စပင် ဖြစ်ပေသည်။ မလွဲဧကန် ထိုအရှင်မြတ်သည် အသင်တို့ပြုလုပ်သမျှတို့ကို ကောင်းစွာ သိတော်မူသောအရှင်မြတ်ပင် ဖြစ်တော်မူ၏။

وَتَرَى الْجِبَالَ تَحْسَبُهَا جَامِدَةً وَّهِيَ تَمُرُّ مَرَّ السَّحَابِ ۚ صُنْعَ اللّٰهِ الَّذِيْٓ أَتْقَنَ كُلَّ شَيْءٍ ۚ إِنَّهٗ خَبِيْرٌۢ بِمَا تَفْعَلُوْنَ ﴿٨٨﴾

**(၁) တံပိုးမှုတ်မည့်နေ့။**

ကိယာမတ်ဖြစ်ရန် အချိန်ကျရောက်သည့်အခါ ကောင်းကင်တမန် အစ္စရာဖီလ်သည် အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်အရ တံပိုးမှုတ်လိုက်ပေမည်။ သို့ ပထမအကြိမ် တံပိုးမှုတ်လိုက်သည့်အခါ အလ္လာဟ်အရှင်မြတ် ချွင်းချန်ထားလိုတော်မူသော သူများမှတစ်ပါး ကမ္ဘာအဝှန်းအားလုံး ထိတ်လန့် သေဆုံးသွားကြပေမည်။ ထုထည်ကြီးမားလှသော တောင်ကြီးများသည်ပင် တိမ်များပမာ လွင့်စဥ်သွားပေမည်။ စကြာဝဠာကြီးတစ်ခုလုံး ပျက်ပြုန်းဆိတ်သုဥ်းသွားပေမည်။ များစွာသော အာလင်မ်ပညာရှင်များ၏ ယူဆချက်အရ တံပိုးမှုတ်ခြင်းမှာ (၂)ကြိမ်သာ ဖြစ်ပေမည်။ ကိယာမတ်နေ့တွင် ဖြစ်ပေါ်မည့် ဖြစ်ရပ်အားလုံးတို့သည်လည်း တံပိုး(၂)ကြိမ် အတွင်းမှာပင် ဖြစ်ပေါ်လာပေမည်။

အလ္လာဟ်အရှင်မြတ် ချွင်းချန်ထားလိုတော်မူသော ပုဂ္ဂိုလ်များမှာ ခိုင်လုံသော ဟဒီးဆ်တော်များအရ ကောင်းကင်တမန် ဂျစ်ဗ်ရီလ်၊ ကောင်းကင်တမန် မီကာအီလ်၊ ကောင်းကင်တမန် အစ္စရာဖီလ်၊ ကောင်းကင်တမန် အစ္စရာအီလ်နှင့် 'အရ်ရှ်'ပလ္လင်တော်ကို ထမ်းရွက်ထားကြသော ကောင်းကင်တမန်များ ဖြစ်ကြပေသည်။ ထို့နောက်တွင်မူ ၎င်းတို့သည်လည်း (တံပိုးမှုတ်ခြင်း၏ဒဏ်ဖြင့် မဟုတ်ဘဲ) သေဆုံးသွားကြပေမည်။ ဤအတိုင်း ဒုရ်ရိမန်ဆူရ်ကျမ်းတွင် လာရှိပေသည်။ ကြည့်-ထာနဝီ။ အ-(၈)။ စ-(၈၆)။

مَنْ جَآءَ بِالْحَسَنَةِ فَلَهٗ خَيْرٌ مِّنْهَا ۚ وَهُمْ مِّنْ فَزَعٍ يَّوْمَئِذٍ اٰمِنُوْنَ ﴿٨٩﴾

၈၉။ မည်သူမဆို ကောင်းမှု (အီမာန် သက်ဝင်ယုံကြည်မှု)နှင့်တကွ လာခဲ့ပါမူ ထိုသူ၏အဖို့ ထိုထက် ကောင်းမြတ် အကျိုးကျေးဇူးရှိသည့်ပြင် ၎င်းတို့သည် (ကြီးကျယ်သော)ထိတ်လန့်ခြင်းမှလည်း ကင်းလွတ်သူများပင် ဖြစ်ကြပေမည်။

وَمَنْ جَآءَ بِالسَّيِّئَةِ فَكُبَّتْ وُجُوْهُهُمْ فِى النَّارِ ۗ هَلْ تُجْزَوْنَ اِلَّا مَا كُنْتُمْ تَعْمَلُوْنَ ﴿٩٠﴾

၉၀။ သို့ရာတွင် မည်သူမဆို ဒုစရိုက် 'ကုဖ်ရ်' သွေဖည် ငြင်းပယ်မှုနှင့်တကွ ရောက်ရှိလာခဲ့မူ၊ ထိုသူတို့သည် မျက်နှာ မှောက်စေလျက် မီးထဲသို့ ပစ်ချခြင်းကို ခံကြရပေမည်။ (ထို့ပြင်) အသင်တို့သည် မိမိတို့ကျင့်မူလျက် ရှိခဲ့ကြသော အပြုအမူများ၏အစားပေးခြင်းကို ခံကြရခြင်းသာလျှင် ဖြစ်သည်ဟု (ပြောဆိုခြင်းကို ခံကြရကုန်အံ့သတည်း)။

اِنَّمَآ اُمِرْتُ اَنْ اَعْبُدَ رَبَّ هٰذِهِ الْبَلْدَةِ الَّذِىْ حَرَّمَهَا وَلَهٗ كُلُّ شَىْءٍ ۖ وَّاُمِرْتُ اَنْ اَكُوْنَ مِنَ الْمُسْلِمِيْنَ ﴿٩١﴾

၉၁။ (အို-နဗီတမန်တော်၊ အသင်သည် ဤသို့ ပြောကြားပါလေ)။ ငါသည် ဤ(မက္ကာ)မြို့တော်၏ အရှင်သခင်(အစစ်အမှန်)အား ဆည်းကပ်ကိုးကွယ်ရန် အမိန့်ပေးတော်မူခြင်းကို ခံရလေသည်။ ထိုအရှင်မြတ်သည် ဤမြို့တော်ကို ထူးမြတ်စေတော်မူခဲ့သည်။ အမှန်မှာအရာခပ်သိမ်းတို့သည် ထိုအရှင်မြတ် ပိုင်ဆိုင်သောအရာများပင် ဖြစ်ကြကုန်၏။ ၎င်းပြင် ငါသည် 'မွတ်စ်လင်မ်' အမိန့်တော်ကိုလိုက်နာသူများတွင် အပါအဝင်ဖြစ်ရန်အမိန့်ပေးတော်မူခြင်းလည်းခံရပေသည်။

وَاَنْ اَتْلُوَا الْقُرْاٰنَ ۚ فَمَنِ اهْتَدٰى فَاِنَّمَا يَهْتَدِىْ لِنَفْسِهٖ ۚ وَمَنْ ضَلَّ فَقُلْ اِنَّمَاۤ اَنَا مِنَ الْمُنْذِرِيْنَ ﴿٩٢﴾

၉၂။ ထိုမှတပါးငါသည် ကုရ်အာန်ကျမ်းတော်မြတ်ကို (အသင်တို့ရှေ့ဝယ် အစ္စလာမ်သာသနာတော်သို့ ဖိတ်ခေါ်သောသူအနေနှင့်) ဖတ်ကြားရန် (အမိန့်ပေးတော်မူခြင်းကိုလည်း ခံရလေသည်)။ သို့ဖြစ်ပေရာ မည်သူမဆို တရားလမ်းမှန်ကို ရရှိခဲ့ပါလျှင် ထိုသူသည် မိမိအဖို့သာလျှင် တရားလမ်းမှန်ကို ရရှိခဲ့ခြင်း

ဖြစ်သည်။ သို့ရာတွင် မည်သူမဆိုလမ်းလွဲလျက်နေခဲ့မူ ငါသည် သတိပေးနှိုးဆော်သူ တစ်ဦးသာလျှင် ဖြစ်ပေသည်။

**၉၃။** ထို့မှတပါး(အို-နဗီတမန်တော်၊) အသင်သည် (ဤသို့လည်း) ပြောကြားပါလေ။ ချီးမွမ်းထောပနာအပေါင်းတို့သည်အလ္လာဟ်အရှင်မြတ်နှင့်သာသက်ဆိုင်ပေသည်။ ထိုအရှင်မြတ်သည်အသင်တို့အား မကြာမြင့်မီပင် မိမိ၏ သက်သေလက္ခဏာတော်များကို ပြသတော်မူပေမည်။ ထိုအခါ အသင်တို့သည် ယင်းသက်သေ လက္ခဏာတော်များကို သိရှိကြပေမည်။ စင်စစ် အသင့်အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်သည် အသင်တို့ ကျင့်မူလျက် ရှိကြကုန်သော အကျင့်အမူတို့ကို မသိတော်မူသောအရှင် မဟုတ်ပေတကား။ [၁]

وَقُلِ الْحَمْدُ لِلّٰهِ سَيُرِيْكُمْ اٰيٰتِهٖ فَتَعْرِفُوْنَهَا ۚ وَمَا رَبُّكَ بِغَافِلٍ عَمَّا تَعْمَلُوْنَ ﴿٩٣﴾

---

(၁) **တမန်တော်မြတ်၏ ကြေညာချက်။**

တမန်တော်မြတ်အား ပွင့်လင်းစွာ ကြေငြာစေတော်မူသည်မှာ-

၁။ ကျွန်ုပ်သည် မက္ကာမြို့တော်၏ အရှင်သခင်ဖြစ်တော်မူသော၊ ထိုမြို့တော်ကို ထူးမြတ်စေတော်မူသော၊ အရာခပ်သိမ်းကုန်တို့ကို စိုးပိုင်တော်မူသော၊ တစ်ဆူတည်း ဖြစ်တော်မူသော အလ္လာဟ်အရှင်မြတ်အားသာလျှင် ဆည်းကပ်ကိုးကွယ်ရန် အမိန့်တော်ရရှိပါသည်။

၂။ အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်များကို မြေဝယ်မကျ ဦးထိပ်ရွက် ပန်ဆင်ကြကုန်သော မွတ်စ်လင်မ် သူတော်စင်အပေါင်းတွင် ပါဝင်နေရန်လည်း အမိန့်တော် ရရှိပါသည်။

၃။ ကုရ်အာန်ကျမ်းလာ အာယတ်တော်များကို ဖတ်၍ဖတ်၍ တရားဟောကြားရန်လည်း အမိန့်တော်ရရှိပါသည်။ ကျွန်ုပ်၏တရားကို ကြားနာပြီးနောက် အကြင်သူတစ်ဦးသည် တရားရရှိအံ့။ သို့ တရားရရှိခြင်းမှာ ၎င်း၏အကျိုးပင်။ အကြင်သူတစ်ဦးသည် ကျွန်ုပ်၏တရားကို ကြားနာပြီးနောက်တွင်လည်း လွဲမှားနေအံ့။ သို့လွဲမှားခြင်းမှာ ကျွန်ုပ်၏ ဆုံးရှုံးမှုမဟုတ်၊ ၎င်း၏ဆုံးရှုံးမှုပင်။ အကြောင်းသော် ကျွန်ုပ်သည် တမန်တော်သာဖြစ်သည်၊ ဟောကြားသူသာ ဖြစ်သည်၊ သတိပေးသူသာ ဖြစ်သည်။ ဤထက်ပို၍ကား ကျွန်ုပ်၌ တာဝန်မရှိပြီ။ ကျွန်ုပ်သည် တာဝန်အရ ဟောကြားပြီးပြီ၊ သတိပေးပြီးပြီ။ အမိန့်နာခံခြင်း၊ မနာခံခြင်းသည် အသင်တို့၏ တာဝန်သာလျှင် ဖြစ်ချေသည်။

၄။ အသင်တို့သည် ကိယာမတ် မဖြစ်သေးသည်ကို အကြောင်းပြု၍ ကိယာမတ်ကို ငြင်းပယ်နေကြသည်။ ကျွန်ုပ်ထံတွင် အလျင်စလို တောင်းဆိုနေကြသည်။ ဤသည် အသင်တို့၏အမှားပင်။ ➢➢

➤➤ ကျွန်ုပ်သည် အလ္လာဟ်အရှင်မြတ်၏ တမန်တော်တစ်ပါးမျှသာ ဖြစ်ပါသည်။ ကျွန်ုပ်သည် တန်ခိုးတော်ရှင် မဟုတ်။ ချီးမွမ်း ထောပနာခြင်း အပေါင်းကို အလ္လာဟ်အရှင်မြတ်သာလျှင် ခံထိုက်တော်မူသည်။ ထိုအရှင်မြတ် သာလျှင် အတိုင်းအဆမရှိ တန်ခိုးတော် ဉာဏ်တော်နှင့် ပြည့်စုံတော်မူသည်။ ထိုအရှင်မြတ်သည်ပင် ဖြစ်သင့် ဖြစ်အပ်သည့် အချိန်တွင် မိမိ၏တန်ခိုးတော်ဖြင့် မိမိ၏ဉာဏ်တော်ဖြင့် ကိယာမတ် ဖြစ်စေတော်မူမည်သာ ဖြစ်သည်။ ကိယာမတ်ကား မဝေးတော့ပြီ။ ထိုအရှင်မြတ်သည် မကြာမီအတွင်း အသင်တို့အား ကိယာမတ်၏ နိမိတ်လက္ခဏာများကို ပြတော်မူမည်။ အသင်တို့လည်း ဒိဋ္ဌဓမ္မ ကိုယ်တွေ့မျက်မြင် မြင်ကြရတော့မည်။ အသင်တို့သည် ကိယာမတ်ကို မြင်တွေ့ရရုံမျှဖြင့် ကိစ္စကား ပြီးဆုံးသွားမည် မဟုတ်သေးချေ။ အသင်တို့သည် မိမိတို့ ပြုမူကျင့်ကြံ ဆည်းပူးခဲ့ကြ သည်များနှင့် စပ်လျဉ်း၍ ကျိုးပြစ်များကို တရားသဖြင့် အတိအကျ ခံစံကြရဦးမည်ဖြစ်သည်။ အကြောင်းသော်ကား အလ္လာဟ် အရှင်မြတ်သည် အသင်တို့ ပြုမူ၊ ကျင့်ကြံ ဆည်းပူးကြသည်များကို အကြွင်းမဲ့ သိတော်မူသည်။ သို့ သိတော်မူသည့် အလျောက် ကျိုးပြစ်ပေးတော် မူမည်သာတည်း။

# ဖြစ်ကြောင်းကုန်စင်ကဏ္ဍ

سُوْرَةُ الْقَصَصِ

ဤကဏ္ဍသည် 'အလ်ကဆွဆ်' ဖြစ်ကြောင်းကုန်စင်ကဏ္ဍ ဖြစ်သည်။
မက္ကာမြို့တော်၌ ကျရောက်ခဲ့သည်။
ဤကဏ္ဍတွင် (အာယတ်)တော် (၈၈)ပါး၊ ရုကူအ် အပိုဒ်(၉)ပိုဒ် အသီးသီးပါရှိသည်။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ ○

အလွန်တရာ သနားကြင်နာ ညှာတာတော်မူသော၊ အထူးကရုဏာတော်ရှင် ဖြစ်တော်မူသော အလ္လာဟ်အရှင်မြတ်၏နာမံတော်ဖြင့် အစပြုပါ၏။

طٰسٓمّٓ ①

၁။ တွာ၊ စီန်၊ မီမ်။

تِلْكَ اٰيٰتُ الْكِتٰبِ الْمُبِيْنِ ②

၂။ ဤသည် ထင်ရှားလှစွာသော ကျမ်းဂန်၏ အာယတ်တော်များပင်။

نَتْلُوْا عَلَيْكَ مِنْ نَّبَاِ مُوْسٰى وَفِرْعَوْنَ بِالْحَقِّ لِقَوْمٍ يُّؤْمِنُوْنَ ③

၃။ ငါအရှင်မြတ်သည် 'မုအ်မင်န်' သက်ဝင်ယုံကြည်ကြကုန်သော အမျိုးသားတို့အကျိုးငှာ မူစာနှင့် ဖစ်ရ်အောင်န်၏ အတ္ထုပ္ပတ္တိအချို့ကို အသင်၏ ရှေ့ဝယ် တိကျမှန်ကန်စွာ ဖတ်ကြားတော်မူ၏။

اِنَّ فِرْعَوْنَ عَلَا فِى الْاَرْضِ وَجَعَلَ اَهْلَهَا شِيَعًا يَّسْتَضْعِفُ طَآئِفَةً مِّنْهُمْ يُذَبِّحُ اَبْنَآءَهُمْ وَيَسْتَحْيٖ نِسَآءَهُمْ ۗ اِنَّهٗ كَانَ مِنَ الْمُفْسِدِيْنَ ④

၄။ ကေန်မလွဲ ဖစ်ရ်အောင်န်သည် တိုင်းပြည်တွင် လွန်စွာမောက်မာလာလေပြီ။ ထို့ပြင် ၎င်းသည် ထိုတိုင်းသူပြည်သားတို့အား အုပ်စုအသီးသီး(ဖြစ်အောင်) ပြုလုပ်၍ထားသည်။ ၎င်းသည် ထိုအုပ်စုများအနက် အုပ်စုတစ်ခုကို အားအင်လျော့နည်းပါးအောင် ပြုလုပ်ထားသည်။

၎င်းတို့၏ သားယောကျ်ားကလေးများကို သတ်ဖြတ်၍၊ ၎င်းတို့၏(သမီး) မိန်းကလေးများကိုမူကား သတ်ဖြတ်ခြင်းမပြုဘဲ အသက်နှင့်ထားသည်။ ကေန်စင်စစ်ထိုဖစ်ရ်အောင်န်သည် ပျက်စီးရာ ပျက်စီးကြောင်း ပြုလုပ်သူတစ်ဦးပင်။

၅။ သို့ရာတွင် ငါအရှင်မြတ်သည် တိုင်းပြည်တွင် အားအင်လျော့နည်းအောင် ပြုလုပ်ခြင်း ခံခဲ့ကြရသူ တို့အား ကျေးဇူးပြုတော်မူရန်လည်းကောင်း၊ ထိုသူ တို့အား ရှေ့ဆောင်ရှေ့ရပ်များ ပြုလုပ်တော်မူရန်လည်း ကောင်း၊ ထိုသူတို့အား အမွေစားအမွေခံများ ပြုလုပ် တော်မူရန်လည်းကောင်း၊ အလိုရှိတော်မူ၏။

وَنُرِيدُ أَن نَّمُنَّ عَلَى الَّذِينَ اسْتُضْعِفُوا فِي الْأَرْضِ وَنَجْعَلَهُمْ أَئِمَّةً وَنَجْعَلَهُمُ الْوَارِثِينَ ﴿٥﴾

၆။ ထိုမှတစ်ပါး ငါအရှင်မြတ်သည် ထိုသူတို့အား ကမ္ဘာမြေဝယ် စိုးမိုးအုပ်ချုပ်သူများ ပြုတော်မူရန်လည်း ကောင်း၊ဖစ်ရ်အောင်န်-ဟာမာန်နှင့် ထိုဖစ်ရ်အောင်န်- *ဟာမာန်* [၁] နှစ်ဦး၏ရဲမက်တို့အား ထို(အားအင်လျော့ နည်းပါးသူတို့ဘက်မှ စိုးရိမ်လျက် ရှိကြသည်များကို (မျက်ဝါးထင်ထင်) ပြသတော်မူရန် လည်းကောင်း အလိုရှိတော်မူပေသတည်း)။ [၂]

وَنُمَكِّنَ لَهُمْ فِي الْأَرْضِ وَنُرِيَ فِرْعَوْنَ وَهَامَانَ وَجُنُودَهُمَا مِنْهُم مَّا كَانُوا يَحْذَرُونَ ﴿٦﴾

---

(၁) __ဟာမာန်__။

ကုရ်အာန်ကျမ်းမြတ်တွင် 'ဟာမာန်'ဟူသောအမည်ကို (၆)နေရာတွင် တွေ့ရှိရသည်။ ကြည့်- ကုရ်အာန် (၂၈:၆။ ၂၈:၈။ ၂၈:၃၈။ ၂၉:၃၉။ ၄၀:၂၄။ ၄၀:၃၆)။ ဤအကြိမ်သည် ပထမဦးဆုံးအကြိမ်ပင် ဖြစ်သည်။

'ဟာမာန်'ကား အသူနည်း။ ဤတွင် အဆိုအမျိုးမျိုး တွေ့ရှိရသည်။ ဟာမာန်သည် ဖစ်ရ်အောင်န်၏ ဝန်ကြီးတစ်ဦး ဖြစ်ခဲ့သည်။ အစ္စရာအီလီ မျိုးနွယ်ဝင်တို့အား ချေမှုန်းရာတွင် ဖစ်ရ်အောင်န်အား အများဆုံး အထောက်အကူ ပြုခဲ့သော လက်ရုံးကြီးလည်း ဖြစ်ခဲ့ပေသည်။

(၂) __တမန်တော်မူစာနှင့် ဖစ်ရ်အောင်န်။__

အီဂျစ်ပြည်တွင် ဖစ်ရ်အောင်န်၏ အမျိုးသားများဖြစ်သော (Copt)များလည်း နေထိုင်လျက်ရှိခဲ့ကြ၏။ အစ္စရာအီလီ မျိုးနွယ်ဝင်များလည်း နေထိုင်လျက် ရှိခဲ့ကြ၏။ ဖစ်ရ်အောင်န်သည် အစ္စရာအီလီ မျိုးနွယ်ဝင်များအား တိုးတက်ကြီးပွားလာကြမည်ကို စိုးရိမ်သည့်အတွက် အမျိုးမျိုး ဖိနှိပ်ချုပ်ချယ်ထားခဲ့၏။ နှိမ်ထားခဲ့၏။

တစ်နည်းအားဖြင့် အစ္စရာအီလီ မျိုးနွယ်ဝင်များသည် ဖစ်ရ်အောင်န်နှင့် ၎င်း၏အမျိုးသားများဖြစ်သော (Copt)တို့၏ ဖဝါးအောက်တွင် နင်းပြားများ ကျေးကျွန်များဖြစ်လျက် နေခဲ့ကြရ၏။ လူ့အခွင့်အရေးများပင် ဆုံးရှုံး၍နေခဲ့ကြရ၏။ သေးသိမ်သော အလုပ်များ၊ အလုပ်ကြမ်းများကို အတင်းအဓမ္မ စေခိုင်းခြင်း ခံနေခဲ့ကြရ၏။ လူဖြစ်ခြင်းတူပါလျက် တိုင်းရင်းသားဖြစ်ချင်း တူပါလျက် (Copt)တို့သည် မျက်နှာကြီး အထက်လွှာများဖြစ်၍ အစ္စရာအီလီမျိုးနွယ်တို့မှာကား မျက်နှာငယ်အောက်လွှာ ဖြစ်၍နေခဲ့ကြရ၏။

ထိုအချိန်မှာပင် အဆိုတစ်ရပ်အရ ဖစ်ရ်အောင်န်သည် အိပ်မက်တစ်ခု မြင်မက်၏။ ➤➤

➤➤ ထိုအိပ်မက်၏ တိတ္ထံ့ကို (ကာဟင်န်) ဗေဒင်ဆရာများက 'ဖစ်ရ်အောင်န်၏ ထီးနန်းသည် အစ္စရာအီလီ မျိုးနွယ်ဝင် လူငယ်တစ်ဦးကြောင့် ပျက်စီးရမည်' ဟူ၍ဖတ်ခဲ့ကြ၏။

ထိုအခါ ဖစ်ရ်အောင်န်သည် ယင်းသည့်အန္တရာယ်ကို ကြိုတင်ကာကွယ်နိုင်ရန်အတွက် အစ္စရာအီလီ မျိုးနွယ်တွင် မွေးဖွားသမျှသော ယောကျ်ားကလေးများကို တစ်ယောက်မကျန် သတ်ဖြတ်သုတ်သင်ရန် အမိန့်ထုတ်ခဲ့၏။ သမီးမိန်းကလေးများကိုမူ အန္တရာယ်မရှိသည်က တစ်ကြောင်း၊ ကြီးပြင်းလာသည့်အခါ မိမိတို့၏ အိုးအိမ်များတွင် ကျေးကျွန်အဖြစ် ခိုင်းစေနိုင်သည်က တစ်ကြောင်း ထိုအကြောင်းများကြောင့် မသတ်ဖြတ်ဘဲထားခဲ့၏။

အိဗ်နုကဆီရ်ကျမ်းတွင် ဖော်ပြထားသည်မှာ တမန်တော်အီဗ်ရာဟီမ် အီဂျစ်ပြည်နှင့် စပ်လျဉ်း၍ မိန့်ဆိုစကားတစ်ခု ပြောကြားခဲ့၏။ ထိုမိန့်ဆိုစကားတွင် အီဂျစ်ပြည်၏ ထီးနန်းသည် အစ္စရာအီလီမျိုးနွယ်ဝင် လူငယ်တစ်ဦး၏လက်တွင် ပျက်စီးရမည့်အကြောင်း ပါရှိ၏။ အစ္စရာအီလီ မျိုးနွယ်ဝင်များသည် ထိုမိန့်ဆိုစကားကို အချင်းချင်း ပြောဆိုမိခဲ့ကြ၏။ နောက်ဆုံးတွင် ထိုစကားသည် ဖစ်ရ်အောင်န်၏ နားသို့ပင် ပေါက်ကြားသွားခဲ့၏။ ထိုအခါ ဖစ်ရ်အောင်န်သည် မိမိ၏ထီးနန်းကို ကာကွယ်ရန်အတွက် အထက်တွင် ဖော်ပြပါအတိုင်း မိုက်မဲရက်စက်စွာ လူသတ်စီမံကိန်း ပြုလုပ်ခဲ့လေသည်။

ဖစ်ရ်အောင်န်သည် တစ်ဖက်တွင် အစ္စရာအီလီ မျိုးနွယ်ဝင်တို့အား သုတ်သင်ရန် လူသတ်စီမံကိန်း ပြုလုပ်နေ၏။ တစ်ဖက်တွင် အလ္လာဟ်အရှင်မြတ်သည် အနှိမ်ခံ၊အစော်ကားခံ အနိုပ်စက်ခံ လူတန်းစားများအပေါ် ကရုဏာတော် ပြုတော်မူလို၏။ နိမ့်ကျသော နင်းပြားများကို မြှင့်တင်ပေးတော်မူလို၏။ ဖစ်ရ်အောင်န်က ကျေးကျွန်ပြုလုပ်ထားသော သူများအား သာသနာ့ရှေ့ဆောင်ရှေ့ရပ်များ၊ တိုင်းပြည်အုပ်ချုပ်သူများအဖြစ် မြှောက်စားတော်မူလို၏။ အာဏာစက်၊ ဓမ္မစက် ၂ခုလုံးကို ချီးမြှင့်တော်မူလို၏။ သို့ချီးမြှင့်မြှောက်စားတော်မူလိုသည့် အတိုင်းလည်း ချီးမြှင့်မြှောက်စားတော်မူခဲ့ပေသည်။

ဖစ်ရ်အောင်န်၊ ဟာမာန်နှင့် ၎င်းတို့၏ နောက်လိုက်ငယ်သားတို့သည် အစ္စရာအီလီ မျိုးနွယ်ဝင်များဘက်မှ ဖြစ်ပေါ်လာမည့် အန္တရာယ်ကို စိုးရိမ်ကာ အစ္စရာအီလီ မျိုးနွယ်ဝင်တို့အား ကိုယ်စွမ်းရှိသမျှ၊ ဉာဏ်စွမ်းရှိသမျှ အမျိုးမျိုးချုပ်ချယ်၊ ဖိနှိပ်၊ချိုးနှိမ်ထားခဲ့ကြ၏။ ထောင်ပေါင်းများစွာသော အစ္စရာအီလီမျိုးနွယ်ဝင် ယောကျ်ားကလေးများအား ရက်စက်စွာ သတ်ဖြတ်ခဲ့ကြ၏။ သို့တစေလည်း နောက်ဆုံးတွင် ၎င်းတို့ စိုးရိမ်နေခဲ့ကြသော အန္တရာယ်သည် ၎င်းတို့ထံသို့ ရောက်ရှိလာခဲ့လေသည်။ ဖစ်ရ်အောင်န်၏ စိုးရိမ်နေခဲ့သော ကလေးသည် ဖစ်ရ်အောင်န်၏ ရင်ခွင်တွင်း၌ပင် ကြီးပြင်းလာခဲ့လေသည်။ ဤသည် အလ္လာဟ်အရှင်မြတ်၏ အစီအစဉ်ပင်။ အလ္လာဟ်အရှင်မြတ် စီမံခန့်ခွဲတော်မူလိုသော အစီအစဉ်ကို မည်သည့်အင်အားမျှ မဖျက်ဆီးနိုင်ပေ။

တမန်တော်မူစာနှင့် ဖစ်ရ်အောင်န်၏ ဖြစ်စဉ်ဖြစ်ရပ်သည် တမန်တော်မြတ်နှင့် မက္ကာမြို့သား ကာဖိရ်များ၏ ဖြစ်စဉ်ဖြစ်ရပ်များနှင့် တူလှချေသည်။ တမန်တော်မူစာ၏ နောက်လိုက် တပည့်သားများဖြစ်သော အစ္စရာအီလီ မျိုးနွယ်ဝင်များသည် ဖစ်ရ်အောင်န်၏ အမျိုးသားများဖြစ်သော (Copt)တို့၏ ချုပ်ချယ်၊ဖိနှိပ် ချိုးနှိမ်မှုအမျိုးမျိုးကို အလူးအလိမ့် ခံနေကြရပေသည်။

ထို့အတူ တမန်တော်မြတ်၏ နောက်လိုက် တပည့်သား မွတ်စ်လင်မ်များသည်လည်း မက္ကာမြို့သား ကာဖိရ်များ၏ နှိပ်စက်ညှဉ်းပန်းမှု အမျိုးမျိုးကို အလူးအလိမ့် ခံစားလျက် နေခဲ့ကြရပေသည်။

နောက်ဆုံးတွင် အလ္လာဟ်အရှင်မြတ်သည် အချုပ်အချယ်ခံခဲ့ရသော၊ အဖိနှိပ်ခံနေခဲ့ရသော၊ အစော်ကားခံနေခဲ့ရသော အစ္စရာအီလီ မျိုးနွယ်ဝင်တို့ကို ၎င်းတို့အား အမျိုးမျိုး ကျူးကျော်စော်ကားခဲ့သူများအပေါ်၌ အနိုင်ပေးတော်မူခဲ့ပေသည်။ ထို့အတူပင် တမန်တော်မြတ်၏ နောက်လိုက်တပည့်သား ➤➤

وَاَوْحَيْنَآ اِلٰٓى اُمِّ مُوْسٰٓى اَنْ اَرْضِعِيْهِ ۚ فَاِذَا خِفْتِ عَلَيْهِ فَاَلْقِيْهِ فِى الْيَمِّ وَلَا تَخَافِىْ وَلَا تَحْزَنِىْ ۚ اِنَّا رَآدُّوْهُ اِلَيْكِ وَجَاعِلُوْهُ مِنَ الْمُرْسَلِيْنَ ۝٧

၇။ ထိုမှတပါး ငါအရှင်မြတ်သည် မူစာ၏ မိခင်ထံသို့ (ဤသို့) အသိပေးတော်မူခဲ့၏။ အသင်သည် ထိုမူစာအား နို့ရည်တိုက်ကျွေးလော့။ ထို့နောက် အသင်သည် ထိုမူစာနှင့်ပက်သက်၍ စိုးရိမ်သောအခါ ၎င်းအား မြစ်ထဲသို့ပစ်လေလော့။ ထို့ပြင် အသင်သည် စိုးရိမ်ခြင်းလည်း မရှိလေနှင့်၊ ပူဆွေးခြင်းလည်း မရှိလေနှင့်။ ဧကန်အမှန် ငါအရှင်မြတ်သည် ထိုမူစာအား အသင့်ထံသို့ ပြန်ပို့ပေးတော်မူမည့်အရှင် ထိုမှတပါး ထိုမူစာအား ရဆူလ်တမန်တော်များတွင် တစ်ပါးအပါအဝင် ပြုလုပ်တော်မူမည့် အရှင် ဖြစ်တော်မူ၏။ ၁

فَالْتَقَطَهٗٓ اٰلُ فِرْعَوْنَ لِيَكُوْنَ لَهُمْ عَدُوًّا وَّحَزَنًا ۗ اِنَّ فِرْعَوْنَ وَهَامٰنَ وَجُنُوْدَهُمَا كَانُوْا خٰطِـِٕيْنَ ۝٨

၈။ ထို့နောက် ဖစ်ရ်အောင်န်၏ အိမ်သူအိမ်သားတို့သည် ထိုမူစာအား နောက်ဆုံးတွင် ထိုမူစာသည် မိမိတို့၏ ရန်သူဖြစ်ရန်နှင့် (မိမိတို့အား) ပူဆွေးစေအံ့သောသူဖြစ်ရန် ကောက်ယူခဲ့ကြကုန်၏။ ဧကန်စင်စစ်ဖစ်ရ်အောင်န်သည်လည်းကောင်း၊ ဟာမာန်သည်လည်းကောင်း၊ ထိုဖစ်ရ်အောင်န်နှင့်ဟာမာန်၏ ရဲမက်တို့သည်လည်းကောင်း၊ ပြစ်မှု ကျူးလွန်သူများပင် ဖြစ်ခဲ့ကြကုန်၏။

---

➤➤ မွတ်စ်လင်မ်များကိုလည်း ၎င်းတို့အား အမျိုးမျိုး ကျူးကျော်စောကားနေသူများ အပေါ်၌ အနိုင်ပေးတော်မူမည်သာတည်း။ အနိုင်လည်း ပေးတော်မူခဲ့ပေသည်။ ဤကား အထင်အရှားပင်။

(၁) ဖစ်ရ်အောင်န်သည် မိမိ၏ထီးနန်းကို အန္တရာယ်ပြုမည့် အစ္စရာအီလီမျိုးနွယ်တွင် မွေးဖွားအံ့သော သားယောကျ်ားကလေးကို ကြိုတင်ကွပ်မျက်နိုင်ရန်အတွက် အစ္စရာအီလီမျိုးနွယ်တွင် မွေးဖွားသမျှသော သားယောကျ်ားကလေးများကို တစ်ယောက်မကျန် သတ်ဖြတ်ရန် အမိန့်ထုတ်ဆင့်ထားခဲ့၏။ အာဏာသားများသည်လည်း အစ္စရာအီလီမျိုးနွယ်တွင် မွေးဖွားသမျှသော သားယောကျ်ားကလေးများကို စေ့ငစွာရှာဖွေ၍ တစ်ယောက်မကျန် သတ်ဖြတ်လျက်ရှိခဲ့ကြ၏။

ထိုအချိန်မှာပင် တမန်တော်မူစာသည် ဖွားမြင်လာခဲ့၏။ တမန်တော်မူစာ၏ မိခင်သည် မိမိ၏ ရင်သွေးအတွက် တွေး၍တွေး၍ ကြောက်ရွံ့စိုးရိမ်ကာ နေခဲ့ရှာ၏။

ထိုအခါ အလ္လာဟ်အရှင်မြတ်သည် တမန်တော်မူစာ၏ မိခင်အား ဤအာယတ်တော်တွင် လာရှိသည့်အတိုင်း သားငယ်အား ဖုံးကွယ်ထားနိုင်သည့်အထိ နို့ရည်တိုက်ကျွေးနေရမည့် အကြောင်း၊ သားငယ်နှင့် ➤➤

وَقَالَتِ امْرَاَتُ فِرْعَوْنَ قُرَّتُ عَيْنٍ لِّيْ وَلَكَ ۖ لَا تَقْتُلُوْهُ ۖ عَسٰٓى اَنْ يَّنْفَعَنَآ اَوْ نَتَّخِذَهٗ وَلَدًا وَّهُمْ لَا يَشْعُرُوْنَ ﴿٩﴾

၉။ ထို့ပြင် ဖစ်ရ်အောင်န်၏ ကြင်ရာက ကျွန်ုပ်၏ အဖို့လည်းကောင်း၊ အသင်၏ အဖို့လည်းကောင်း၊ မျက်စိ အေးမြစေဖွယ်ဖြစ်ပေသည်။ (သို့ဖြစ်ပေရာ) အသင်တို့သည် ထိုမူစာအား မသတ်ဖြတ်ကြကုန်လင့်။ ၎င်းသည် ကျွန်ုပ်တို့အား အကျိုးပေးကောင်းပေးလိမ့်မည်။ သို့တည်းမဟုတ် ကျွန်ုပ်တို့သည် ၎င်းအား သားအဖြစ် မွေးစားထားကြမည်ဟု ပြောဆိုခဲ့လေ၏။ စင်စစ်သော်ကား ၎င်းတို့သည် (မိမိတို့မှာ ထိုသူငယ် လက်ချက်နှင့်ပျက်စီးကြရမည်ကို) မသိကြချေ။ ①

وَاَصْبَحَ فُؤَادُ اُمِّ مُوْسٰى فٰرِغًا ۖ اِنْ كَادَتْ لَتُبْدِيْ بِهٖ لَوْلَآ اَنْ رَّبَطْنَا عَلٰى قَلْبِهَا لِتَكُوْنَ مِنَ الْمُؤْمِنِيْنَ ﴿١٠﴾

၁၀။ ထိုမှတပါးမူစာ၏မိခင်စိတ်နှလုံးမှာ (လွန်စွာ) ဟာသွားခဲ့လေရာ (တုန်လှုပ်ချောက်ချား ထိတ်ထိတ်ပျာပျာဖြစ်သွားခဲ့ရာ)အကယ်၍သာ ငါအရှင်မြတ်သည် ၎င်းအား ယုံကြည်သူတို့တွင် အပါအဝင် ဖြစ်စေအံ့သောငှာ ၎င်း၏စိတ်နှလုံးကို ခိုင်မြဲစေတော်မမူခဲ့ပါလျှင် ဧကန်စင်စစ် ၎င်းသည် ထိုမူစာ၏အကြောင်းကို ထုတ်ဖော် (ပြောဆို)အံ့ဆဲဆဲပင် ဖြစ်သွားခဲ့ပေသည်။

➤➤ ပတ်သက်၍ သတင်းပေါက်ကြားသွားမည်ကို စိုးရိမ်ရသောအခါ သားငယ်ကို ကြုတ်တွင်ထည့်၍ မြစ်ထဲမျှောရမည့်အကြောင်း၊ ယင်းသို့ မြစ်ထဲမျှောရသည့်အတွက် သားငယ် ရေနစ်မည်ကို စိုးရိမ်ရန်မလိုကြောင်း၊ ခေတ္တသားနှင့်အမိ ကွဲကွာနေရသည့်အတွက် ပူဆွေးနေရန် မလိုကြောင်း၊ မကြာမီအတွင်း သားငယ်ကိုမိခင်ထံ အံ့ဖွယ်သရဲ ပြန်လည်ပို့ထားတော် မူမည့်အကြောင်း၊ အချိန်တန်လျှင် သားငယ်အား တမန်တော်အဖြစ် ရွေးချယ်တော်မူမည့် အကြောင်းများ သိကြားစေတော်မူခဲ့လေ၏။ ဤအကြောင်း ကုရ်အာန် (၂၀:၃၇-၄၀) တွင် ပါရှိခဲ့ပြီ။ သက်ဆိုင်ရာ အဖွင့်များကိုလည်း အကျယ်ရေးသားခဲ့ပြီ။

① ဖစ်ရ်အောင်န်၏ကြင်ရာ အာစီယဟ်သခင်မက 'ဤသူငယ်မှာ အလွန်ချစ်ဖွယ်ကောင်းလှပါသည်၊ ကျွန်ုပ်တို့မှာ သားယောကျာ်းဟူ၍ တစ်ယောက်မျှမရှိ။ ဤသူငယ်နှင့်ပင် စိတ်ဖြေကြပါစို့၊ ဤသူငယ်သည် ကျွန်မအဖို့လည်းကောင်း၊ ရှင့်အဖို့လည်းကောင်း မျက်စိအေးမြကြည်လင်ဖွယ် ဖြစ်ပါလိမ့်မည်'ဟု ပြောဆို မေတ္တာရပ်ခံရာ ဖစ်ရ်အောင်န်က 'ဤသူငယ်သည် သင်မအဖို့ မျက်စိအေးမြကြည်လင်ဖွယ် ဖြစ်ကောင်းဖြစ်ပါလိမ့်မည်၊ ကျွန်ုပ်အဖို့ မဟုတ်ပါ' ဟု 'တက်ဒီရ်အဇလီ' အလ္လာဟ်၏ စီမံကိန်းတွင် ပါရှိသည့်အတိုင်း စကားဦး သန်းလိုက်လေသည်။ နောက်ဆုံးတွင် ထိုအတိုင်းပင် ဖြစ်လာခဲ့ပေသည်။ အာစီယဟ် သခင်မသည် တမန်တော် မူစာကို အကြောင်းပြု၍ တရားရခဲ့လေသည်။ ဖစ်ရ်အောင်န်သည် တမန်တော် မူစာလက်ထက်တွင် ပျက်စီးခြင်းကြီးမလှ ပျက်စီးသွားရလေသည်။

وَقَالَتْ لِأُخْتِهِ قُصِّيهِ
فَبَصُرَتْ بِهِ عَنْ جُنُبٍ
وَّهُمْ لَا يَشْعُرُوْنَ ﴿١١﴾

၁၁။ ၎င်းပြင် ထို(မူစာ၏) မိခင်သည် ထိုမူစာ၏ အစ်မအားအသင်သည် ၎င်းမူစာ၏နောက်သို့ လိုက်၍ သွားလေဟု ပြောဆိုခဲ့၏။ သို့ဖြစ်ပေရာ ထို(မူစာ၏) အစ်မသည် ၎င်းမူစာအား အဝေးမှ (စောင့်၍)ကြည့်နေခဲ့လေ၏။ သို့ရာတွင် ၎င်း(ဖစ်ရ်အောင်န်၏ အိမ်သူအိမ်သား)တို့သည်(ထိုမူစာ၏အစ်မအား မူစာ၏အစ်မဖြစ်သည်ဟူ၍) မသိကြပေ။

وَحَرَّمْنَا عَلَيْهِ الْمَرَاضِعَ مِنْ
قَبْلُ فَقَالَتْ هَلْ أَدُلُّكُمْ عَلٰٓى
أَهْلِ بَيْتٍ يَّكْفُلُوْنَهُ لَكُمْ
وَهُمْ لَهُ نٰصِحُوْنَ ﴿١٢﴾

၁၂။ စင်စစ်ငါအရှင်မြတ်သည် မူလကပင် ထိုမူစာ၏အပေါ်၌ နို့ထိန်းသည်တို့၏နို့ရည်ကို (မစို့ရန်) တားမြစ်ထားတော်မူခဲ့၏။ သို့ဖြစ်ပေရာ ထို(မူစာ၏) အစ်မက ကျွန်ုပ်သည်အသင်တို့အားထိုကလေးသူငယ်ကို အသင်တို့အဖို့ မွေးမြူစောင့်ရှောက်၍ ပေးကြမည့်ပြင်၊ ထိုကလေးသူငယ်၏ကောင်းကျိုးကို လိုလားသူများဖြစ်ကြသော အိမ်ထောင်သားချင်းတို့ကို ညွှန်ပြရပါမည်လောဟု ဆိုခဲ့လေ၏။

فَرَدَدْنٰهُ إِلٰٓى أُمِّهِ كَيْ تَقَرَّ
عَيْنُهَا وَلَا تَحْزَنَ وَلِتَعْلَمَ
أَنَّ وَعْدَ اللّٰهِ حَقٌّ وَّلٰكِنَّ
أَكْثَرَهُمْ لَا يَعْلَمُوْنَ ﴿١٣﴾

၁၃။ ထို့နောက်ထိုမိခင်၏မျက်စိ အေးမြကြည်လင်စေရန်လည်းကောင်း၊ ထိုမိခင် ပူဆွေးမနေရန်လည်းကောင်း၊ အမှန်မုချအလ္လာဟ်အရှင်မြတ်၏ ကတိတော်သည် မှန်ကန်သည်ကို ထိုမိခင်(လက်တွေ့)သိရှိရန်လည်းကောင်း၊ ငါအရှင်မြတ်သည် (မိမိထားရှိတော်မူသော ကတိတော်အတိုင်း) ထိုသားငယ်အား ၎င်း၏မိခင်ထံ ပြန်ပို့ပေးတော်မူခဲ့လေသည်။ သို့ရာတွင် ၎င်းတို့အနက် များစွာသောသူများသည် မသိကြပေ။

وَلَمَّا بَلَغَ أَشُدَّهُ وَاسْتَوٰٓى
اٰتَيْنٰهُ حُكْمًا وَّعِلْمًا ط

၁၄။ တစ်ဖန် ထိုမူစာသည် မိမိ လူလားမြောက်သောအရွယ်သို့ရောက်ရှိပြီး (အသိဉာဏ်) ရင့်သန်လာသောအခါ၊ ငါအရှင်မြတ်သည် ထိုမူစာအား ဉာဏ်

وَكَذٰلِكَ نَجۡزِى الۡمُحۡسِنِيۡنَ ﴿١٤﴾

အမြော်အမြင်ကိုလည်းကောင်း၊ အသိပညာကိုလည်းကောင်း၊ ချီးမြှင့်ပေးသနားတော်မူခဲ့၏။ စင်စစ်သော်ကား၊ ငါအရှင်မြတ်သည် သူတော်ကောင်းတို့အား ဤနည်းအတိုင်းပင် အစားပေးတော်မူသည်။

وَدَخَلَ الۡمَدِيۡنَةَ عَلٰى حِيۡنِ غَفۡلَةٍ مِّنۡ اَهۡلِهَا فَوَجَدَ فِيۡهَا رَجُلَيۡنِ يَقۡتَتِلٰنِ هٰذَا مِنۡ شِيۡعَتِهٖ وَهٰذَا مِنۡ عَدُوِّهٖ‌ۚ فَاسۡتَغَاثَهُ الَّذِىۡ مِنۡ شِيۡعَتِهٖ عَلَى الَّذِىۡ مِنۡ عَدُوِّهٖۙ فَوَكَزَهٗ مُوۡسٰى فَقَضٰى عَلَيۡهِ‌ قَالَ هٰذَا مِنۡ عَمَلِ الشَّيۡطٰنِ‌ؕ اِنَّهٗ عَدُوٌّ مُّضِلٌّ مُّبِيۡنٌ ﴿١٥﴾

၁၅။ ၎င်းပြင် ထိုမူစာသည် (အရွယ်ရောက်ပြီးနောက် တစ်နေ့သ၌) မြို့တွင်းသို့ ထိုမြို့သူမြို့သားတို့ အမှုမဲ့အမှတ်မဲ့ ဖြစ်နေချိန်ဝင်ရောက်ခဲ့ရာ ယင်းမြို့တွင်း၌စကားများရန်ဖြစ်နေကြသော လူနှစ်ယောက်အား တွေ့ရှိခဲ့ပေသည်။ (ထိုနှစ်ယောက်အနက်) ဤသူတစ်ယောက်မှာ ထိုမူစာ၏အုပ်စုထဲမှဖြစ်ပြီး၊ အခြားတစ်ယောက်မှာကား ထိုမူစာ၏ ရန်သူတို့အနက်မှ ဖြစ်ခဲ့ပေသည်။

သို့ဖြစ်ပေရာ ထိုမူစာ၏ အုပ်စုမှဖြစ်သောသူက ထိုမူစာ၏ရန်သူတို့အနက်မှ ဖြစ်သောသူနှင့် ဆန့်ကျင်၍ အပူတပြင်း အကူအညီ တောင်းခံခဲ့လေသည်။ ထိုအခါ မူစာသည် ၎င်းရန်သူအုပ်စုမှဖြစ်သောသူအား လက်သီးဖြင့် ထိုးပြီး ၎င်းအား အဆုံးစီရင်လိုက်လေသည်။ ထိုမူစာက ဤသည် ရှိုင်တွာန်မိစ္ဆာအပြုအမူပင် ဖြစ်သည်။ ဧကန်မလွဲ ထိုရှိုင်တွာန်မိစ္ဆာကောင်မှာ ထင်ရှားစွာလမ်းလွဲစေသော ရန်သူပင် ဖြစ်သည်ဟု ပြောဆိုခဲ့လေသည်။

قَالَ رَبِّ اِنِّىۡ ظَلَمۡتُ نَفۡسِىۡ فَاغۡفِرۡ لِىۡ فَغَفَرَ لَهٗ‌ؕ اِنَّهٗ هُوَ الۡغَفُوۡرُ الرَّحِيۡمُ ﴿١٦﴾

၁၆။ ထိုမူစာသည် (အလ္လာဟ်အရှင်မြတ်အထံတော်တွင်) အို-ကျွန်တော်မျိုးအား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၊ ဧကန်မလွဲ ကျွန်တော်မျိုးသည် မိမိကိုယ်ကို မိမိနှိပ်စက်မိပါပြီ၊ အရှင်မြတ်သည် ကျွန်တော်မျိုးအား ခွင့်လွှတ်ချမ်းသာ ပေးသနားတော်မူပါဟု လျှောက်ထားပန်ကြားခဲ့ရာ ထိုအရှင်မြတ်သည်

ငင်းအားခွင့်လွှတ်ချမ်းသာပေးသနားတော်မူခဲ့ပေသည်။ စင်စစ်ကေန် ထိုအရှင်မြတ်သည်ပင်လျှင် အလွန်တရာ ခွင့်လွှတ်ချမ်းသာပေးသနားတော်မူသော အလွန်တရာ ကြင်နာသနား ကရုဏာပြုတော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူပေသည်။

قَالَ رَبِّ بِمَآ اَنۡعَمۡتَ عَلَیَّ فَلَنۡ اَکُوۡنَ ظَہِیۡرًا لِّلۡمُجۡرِمِیۡنَ ﴿۱۷﴾

၁၇။ (ထိုအခါ) ထိုမူစာသည် အို-ကျွန်တော်မျိုး အားဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်၊ အရှင်မြတ် သည် ကျွန်တော်မျိုး၏အပေါ်၌ ကျေးဇူးပြုတော်မူ ခဲ့သည်ဖြစ်ရကား၊ ကျွန်တော်မျိုးသည်လည်း (နောင် တွင်)အပြစ်ရှိသူတို့အား မည်သည့်အခါမျှ အကူအညီ ပေးသူဖြစ်တော့မည်မဟုတ်ပါဟူ၍ လျှောက်ထားခဲ့ပေ သတည်း။

فَاَصۡبَحَ فِی الۡمَدِیۡنَۃِ خَآئِفًا یَّتَرَقَّبُ فَاِذَا الَّذِی اسۡتَنۡصَرَہٗ بِالۡاَمۡسِ یَسۡتَصۡرِخُہٗ ؕ قَالَ لَہٗ مُوۡسٰۤی اِنَّکَ لَغَوِیٌّ مُّبِیۡنٌ ﴿۱۸﴾

၁၈။ တစ်ဖန်(ထို)မူစာသည် မြို့ထဲတွင် ကြောက်ရွံ့ စိုးရိမ်စွာစောင့်မျှော်လျက်နံနက်မိုးလင်းခဲ့ရာ ရုတ်တရက် ယမန်နေ့က မိမိထံ အကူအညီတောင်းခဲ့သောသူသည် (ယနေ့တစ်ဖန် ထပ်မံ၍) မိမိအား ဟစ်ခေါ်နေပြန်၏။ ထိုမူစာကငင်းအား ဧကန်အမှန် အသင်သည် ထင်ရှား စွာသော လမ်းလွဲသူတစ်ဦးပင် ဖြစ်သည်ဟု ပြောကြား ခဲ့လေ၏။

فَلَمَّاۤ اَنۡ اَرَادَ اَنۡ یَّبۡطِشَ بِالَّذِیۡ ہُوَ عَدُوٌّ لَّہُمَا ۙ قَالَ یٰمُوۡسٰۤی اَتُرِیۡدُ اَنۡ تَقۡتُلَنِیۡ کَمَا قَتَلۡتَ نَفۡسًۢا بِالۡاَمۡسِ ٭ۖ اِنۡ تُرِیۡدُ اِلَّاۤ اَنۡ تَکُوۡنَ جَبَّارًا

၁၉။ တစ်ဖန်ထိုမူစာသည် မိမိတို့နှစ်ဦးလုံး၏ ရန်သူ ဖြစ်သောသူ(ကစ်ဗ်တွီ)အား လက်ရောက်ပြုရန် ကြံရွယ် ခဲ့လေရာထို(မိမိအုပ်စုထဲမှဖြစ်သော)သူက အို-မူစာ၊ အသင်သည်ယမန်နေ့ကလူတစ်ယောက်အားသတ်ဖြတ် ဘိသကဲ့သို့ (ယခုမူ) ကျွန်ုပ်အား သတ်ဖြတ်လိုသ လော။ အသင်သည်တိုင်းပြည်တွင် ရက်စက်စွာ စိုးမိုး

فِي الْأَرْضِ وَمَا تُرِيدُ أَنْ تَكُونَ مِنَ الْمُصْلِحِينَ ۝١٩

အုပ်ချုပ်လိုသူဖြစ်ရန်သာလျှင်အလိုရှိပေသည်။ အသင်သည်စေ့စပ်၍ပေးသူမဟုတ်ဟု ပြောဆိုခဲ့ပေသတည်း။

وَجَاءَ رَجُلٌ مِّنْ أَقْصَا الْمَدِينَةِ يَسْعَىٰ قَالَ يَا مُوسَىٰ إِنَّ الْمَلَأَ يَأْتَمِرُونَ بِكَ لِيَقْتُلُوكَ فَاخْرُجْ إِنِّي لَكَ مِنَ النَّاصِحِينَ ۝٢٠

၂၀။ ၎င်းပြင် မြို့၏အစွန်မှ လူတစ်ယောက်သည် ပြေးလျက်လာပြီးလျှင်၊ အို-မူစာ၊ မှူးကြီးမတ်ရာတို့သည် အသင်နှင့် ပတ်သက်၍ အသင့်အား သတ်ပစ်ရန် ဆွေးနွေးတိုင်ပင်လျက် ရှိကြပေသည်။ သို့ပါ၍ အသင်သည်ထွက်သွားပါလေ။ ကျွန်ုပ်သည် အသင်၏ ကောင်းကျိုးလိုလားသူတစ်ဦးဖြစ်သည်ဟု ပြောကြားခဲ့လေသတည်း။

فَخَرَجَ مِنْهَا خَائِفًا يَتَرَقَّبُ قَالَ رَبِّ نَجِّنِي مِنَ الْقَوْمِ الظَّالِمِينَ ۝٢١

၂၁။ ထိုအခါ ထိုမူစာသည် ထိုမြို့မှ ထွက်ခွာသွားခဲ့လေသည်။ ရန်သူများလိုက်လာမည်ကို စိုးရိမ်လျက် (အလ္လာဟ်အရှင်မြတ်၏ အကူအညီကို) စောင့်မျှော်လျက်၊ အို-ကျွန်တော်မျိုး၏အရှင်မြတ်၊ အရှင်မြတ်သည် ကျွန်တော်မျိုးအား မတရားသောသူတို့(၏ဘေးရန်ခပ်သိမ်းတို့)မှကယ်တော်မူပါဟု လျှောက်ထားပန်ကြားခဲ့လေသည်။

وَلَمَّا تَوَجَّهَ تِلْقَاءَ مَدْيَنَ قَالَ عَسَىٰ رَبِّي أَن يَهْدِيَنِي سَوَاءَ السَّبِيلِ ۝٢٢

၂၂။ တစ်ဖန် ထိုမူစာသည် 'မဒ်ယန်' မြို့ဘက်သို့ မျက်နှာလှည့်ခဲ့သောအခါ ငါ၏ အရှင်မြတ်သည် ငါ့အား လမ်းမှန်ကို ညွှန်ပြတော်မူမည်ကို မျှော်လင့်ရပေသည်ဟု မြွက်ဆိုခဲ့လေသည်။ ၁

---

၁ **<u>တမန်တော်မူစာ အီဂျစ်ပြည်မှ တိမ်းရှောင် ထွက်ခွာလာခဲ့ခြင်း။</u>**

တမန်တော်မူစာသည် ဖစ်ရ်အောင်န်၏ ဘေးရန်မှစိုးရိမ်၍ အီဂျစ်ပြည်မှ တိမ်းရှောင်၍ကား ထွက်ခွာလာခဲ့ချေပြီ။ သို့တစေလည်း ဘယ်ပုံဘယ်သို့ အဘယ်ဌာနသို့ ယွန်းရမည်ကိုမူ မသိချေ။ ထိုအခါ အလ္လာဟ်အရှင်မြတ်ထံတော်၌ ဖြောင့်မတ်မှန်ကန်သောလမ်းကို ညွှန်ပြတော်မူပါမည့်အကြောင်း လျှောက်ထားပန်ကြားရာ အလ္လာဟ်အရှင်မြတ်သည် တမန်တော်မူစာအား မဒ်ယန် (Midian)သို့ လမ်းညွှန်ပြတော်မူလိုက်လေသည်။

'မဒ်ယန်'အကြောင်း ကုရ်အာန်(၇း၈၅)တွင် အကျယ်ဖွင့်ဆို ရေးသားခဲ့ပေပြီ။

၂၃။ ထိုမှတပါး ထိုမူစာသည် မဒ်ယန်မြို့၏ ရေတွင်းသို့ရောက်လတ်သော် ထိုရေတွင်း၏အနီးတွင် လူတစ်စုသည် (မိမိတို့မွေးမြူထားသော တိရစ္ဆာန်များကို) ရေတိုက်နေကြသည်ကို တွေ့ရှိခဲ့၏။ ထိုမှတပါး ၎င်းတို့နှင့် သီးခြားအမျိုးသမီး ၂-ဦးအား (မိမိတို့၏ တိရစ္ဆာန်များကို) တားဆီးထိန်းသိမ်းလျက် ရှိကြသည်ကိုလည်း တွေ့ရှိခဲ့၏။

ထိုမူစာက အသင်တို့နှစ်ဦး၏ အဖြစ်သည် အသို့ပါနည်းဟု ပြောဆိုမေးမြန်းခဲ့ရာ ထိုမိန်းမနှစ်ဦးက (ဤ)သိုးထိန်းတို့သည် (မိမိတို့၏တိရစ္ဆာန်များကို)ပြန်လည်ဖယ်ထုတ်၍ မသွားသမျှ ကာလပတ်လုံး ကျွန်ုပ်တို့သည် (မိမိတို့တိရစ္ဆာန်များကို) ရေတိုက်ကျွေးခြင်း မပြုနိုင်ပေ။ ၎င်းပြင် ကျွန်ုပ်တို့၏ ဖခင်မှာ သက်ရွယ် အလွန့်အလွန် အိုမင်းကြီးရင့်သူ ဖြစ်ပေသည်ဟု ဖြေကြားခဲ့ကြလေသည်။

وَلَمَّا وَرَدَ مَآءَ مَدْيَنَ وَجَدَ
عَلَيْهِ أُمَّةً مِّنَ ٱلنَّاسِ
يَسْقُونَ وَوَجَدَ مِن دُونِهِمُ
ٱمْرَأَتَيْنِ تَذُودَانِ ۖ قَالَ
مَا خَطْبُكُمَا ۖ قَالَتَا لَا نَسْقِى
حَتَّىٰ يُصْدِرَ ٱلرِّعَآءُ ۖ وَأَبُونَا
شَيْخٌ كَبِيرٌ ﴿٢٣﴾

၂၄။ ထိုအခါထိုမူစာသည် ၎င်းတို့နှစ်ဦးအား ငဲ့ညှာ၍ (၎င်းတို့၏တိရစ္ဆာန်များကို) ရေ(ငင်၍) တိုက်ခဲ့ပြီးနောက် အရိပ်ရှိရာသို့ (သွားရောက်ထိုင်နေခဲ့၏)။ ထို့နောက် ထိုမူစာသည် 'အို-ကျွန်တော်မျိုး၏အရှင်မြတ်၊ ဧကန်အမှန် ကျွန်တော်မျိုးသည် အရှင်မြတ် ကျွန်တော်မျိုးထံ ချပေးသနားတော်မူသော မည်သည့် ကောင်းမြတ်သောအရာကိုမဆို လိုလားတောင့်တရသူ ဖြစ်ပါသည်' ဟု လျှောက်ထားပန်ကြားခဲ့ပေသတည်း။

فَسَقَىٰ لَهُمَا ثُمَّ تَوَلَّىٰٓ إِلَى ٱلظِّلِّ
فَقَالَ رَبِّ إِنِّى لِمَآ أَنزَلْتَ
إِلَىَّ مِنْ خَيْرٍ فَقِيرٌ ﴿٢٤﴾

၂၅။ ထို့နောက် ၎င်း(မိန်းမ)နှစ်ယောက်အနက် တစ်ယောက်သည် ထိုမူစာ၏ထံသို့ ရှက်ကြောက်စွာ လျှောက်လာပြီး 'အသင်သည် ကျွန်ုပ်တို့အား ငဲ့ညှာ၍

فَجَآءَتْهُ إِحْدَىٰهُمَا تَمْشِى عَلَى
ٱسْتِحْيَآءٍ قَالَتْ إِنَّ أَبِى يَدْعُوكَ

لِيَجْزِيَكَ أَجْرَ مَا سَقَيْتَ لَنَا ۚ فَلَمَّا جَآءَهُۥ وَقَصَّ عَلَيْهِ ٱلْقَصَصَ قَالَ لَا تَخَفْ ۖ نَجَوْتَ مِنَ ٱلْقَوْمِ ٱلظَّٰلِمِينَ ﴿٢٥﴾

(ကျွန်ုပ်တို့၏တိရစ္ဆာန်များကို) ရေတိုက်ခဲ့သောအကျိုး ကျေးဇူးကို အသင်အား ပြန်ဆပ်အံ့သောငှာ ကျွန်ုပ်၏ ဖခင်သည် အသင့်အား ခေါ်နေပါသည်' ဟု ပြောဆို လေ၏။ ထို့နောက်ထိုမူစာသည် ၎င်း၏ထံသို့ ရောက် လာခဲ့ပြီး ဖြစ်ကြောင်းကုန်စင်ကို၎င်း၏ရှေ့ဝယ် ပြောပြ ခဲ့သောအခါ ၎င်းက 'အသင်သည် မစိုးရိမ်လေနှင့်။ အသင်သည် မတရားသောသူတို့(၏ ဘေးရန်)မှ လွတ်မြောက်ခဲ့လေပြီ' ဟုပြောဆိုလေ၏။ ၁

---

(၁) **တမန်တော်မူစာ မဒ်ယန်သို့ ရောက်ရှိလာသော်၊**

အီဂျစ်ပြည်မှ မဒ်ယန်အထိ ကုန်းကြောင်းခရီးမှာ (၁၀)ရက်ခန့် ခရီးဖြစ်သည်။ ခရီးကြမ်းဖြစ်သည်။ တမန်တော်မူစာသည် အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်ဖြင့် လမ်းခရီးတွင် ဒုက္ခအမျိုးမျိုးကို ကျော်လွှန်ကာ မဒ်ယန်သို့ရောက်ရှိလာခဲ့၏။ ဆာလောင် ဝေမ်မွတ်လျက်ရှိ၏။

မဒ်ယန်သို့ရောက်သော် တစ်နေရာတွင် ရေတွင်းတစ်ခု၌ တိရစ္ဆာန်များကို ရေတိုက်နေသော လူတစ်စုကို မြင်၏။ ၎င်းတို့နှင့် မလှမ်းမကမ်းတွင် ၎င်းတို့နှင့် သီးခြားတစ်နေရာ၌ ကာယိန္ဒြေရှိစွာ မိမိတို့၏တိရစ္ဆာန်များကို ထိန်းသိမ်းစောင့်ဆိုင်းနေသော အမျိုးသမီး၂ ဦးကိုလည်း တွေ့မြင်၏။ ကျိုးကြောင်း မေးကြည့်ရာ ထိုအမျိုးသမီး ၂ ဦးက 'ကျွန်မတို့သည် မိန်းမသားများ ဖြစ်ကြပါသည်။ အခြားသူများ အသီးသီး ၎င်းတို့၏ တိရိစ္ဆာန်များကို ရေတိုက်၍ ပြန်သွားကြမှသာလျှင် ကျွန်မတို့သည် မိမိတို့၏ တိရစ္ဆာန်များကို ရေတိုက်ကြရပါသည်။ ယခုကဲ့သို့ ကျွန်မတို့ လာရခြင်းမှာလည်း ဖခင်ကြီးမှာ အသက်အရွယ် အလွန်ကြီးရင့်နေပြီ ဖြစ်ခြင်းကြောင့် ဖြစ်ပါသည်'ဟု ပြောပြကြလေသည်။

ထိုအခါ တမန်တော်မူစာသည် အဆိုပါအမျိုးသမီးများအား သနားထောက်ထားကာ မိမိကိုယ်တိုင် ထ၍ရေငင်ပြီး အဆိုပါအမျိုးသမီး ၂ဦးတို့၏ တိရစ္ဆာန်များကို လျင်မြန်ဖျတ်လတ်စွာ ရေတိုက်လိုက်လေသည်။ ထို့နောက် တမန်တော်မူစာသည် ခရီးသည် အာဂန္တုတစ်ဦးပီပီ အနီးရှိ သစ်ပင်တစ်ပင်၏အရိပ်တွင် သွားရောက် ထိုင်ကာ ဆာလောင်မွတ်သိပ်လှသည့်အတွက် အလ္လာဟ်အရှင်မြတ် ထံတော်၌ 'အို... ကျွန်တော်မျိုး၏ အရှင်၊ ကျွန်တော်မျိုးသည် အရှင်မြတ် ကျွန်တော်မျိုးထံ ချပေးသနားတော်မူသည့် မည်သည့်ကောင်းမြတ်သော အရာကိုမဆို အထူးလိုလား တောင့်တနေရသူ ဖြစ်ပါသည်'ဟု လျှောက်ထား ပန်ကြားလေသည်။

အဆိုပါ အမျိုးသမီး ၂ဦးတို့သည် တမန်တော်မူစာ၏ အပြုအမူနှင့် အရိပ်အာဝါသအောက်တွင် သွားရောက်ထိုင်နေသည်ကို ထောက်ချင့်၍ စေတနာ မြင့်မြတ်လှသော ရပ်ဝေးမှ ရောက်ရှိလာသော ခရီးသည် အာဂန္တုတစ်ဦး ဖြစ်ကြောင်းကို ရိပ်မိသွားကြလေသည်။ အမျိုးသမီး ၂-ဦးတို့သည် မိမိတို့အိမ်သို့ ပြန်ရောက်ရှိလာ ကြပြီး ဖခင်ကြီးအား ကျိုးကြောင်းပြောပြကြရာ ဖခင်ကြီးသည် သမီးတစ်ဦးအားစေလွှတ်၍ တမန်တော်မူစာအား ဧည့်ခံ ကျွေးမွေးနိုင်ရန်အလို့ငှာ မိမိအိမ်သို့ကြွရောက်ရန် ဖိတ်ကြားခဲ့လေသည်။ (အဆိုပါ အမျိုးသမီး ၂-ဦး၏ ဖခင်ကြီးမှာအခြားမဟုတ်၊ အများမှုဖတ်စိစစ်ရိမျိုး၏ယူဆချက်အရ တမန်တော် ရှုအိုက်ဗ်ပင်ဖြစ်သည်၊)➤➤

قَالَتْ إِحْدَىٰهُمَا يَٰٓأَبَتِ ٱسْتَـْٔجِرْهُ ۖ إِنَّ خَيْرَ مَنِ ٱسْتَـْٔجَرْتَ ٱلْقَوِىُّ ٱلْأَمِينُ ٢٦

၂၆။ ထို(မိန်းမ)နှစ်ဦးအနက် မိန်းမတစ်ဦးက 'အို-ဖခင်၊ အသင်ဖခင်သည် ဤသူအား (သူရင်းငှား အဖြစ်) ငှားထားပါ။ ဧကန်မလွဲ အသင်ဖခင်သည် (သူရင်းငှားအဖြစ်) ငှားအံ့သောသူတို့တွင် ခွန်အား ရှိသူ၊ ယုံကြည်စိတ်ချအပ်သောသူသည် အကောင်းဆုံးပင် ဖြစ်ပါသည်' ဟု ပြောဆိုလေ၏။

قَالَ إِنِّىٓ أُرِيدُ أَنْ أُنكِحَكَ إِحْدَى ٱبْنَتَىَّ هَٰتَيْنِ عَلَىٰٓ أَن تَأْجُرَنِى ثَمَٰنِىَ حِجَجٍ ۖ فَإِنْ أَتْمَمْتَ عَشْرًا فَمِنْ عِندِكَ ۖ وَمَآ أُرِيدُ أَنْ أَشُقَّ عَلَيْكَ ۚ سَتَجِدُنِىٓ إِن شَآءَ ٱللَّهُ مِنَ ٱلصَّٰلِحِينَ ٢٧

၂၇။ ထို(ဖခင်)က'ဧကန်အမှန် ကျွန်ုပ်သည် အသင့်အား မိမိ၏သမီးနှစ်ယောက်အနက် တစ်ယောက်နှင့် အသင်သည် ကျွန်ုပ်ထံ ရှစ်နှစ် သူရင်းငှားလုပ်ရန် စည်းကမ်းချက်အပေါ်၌ ထိမ်းမြား၍ပေးရန် ရည်ရွယ်သည်။ သို့ရာတွင် အကယ်၍ အသင်သည် ဆယ်နှစ်ပြည့်အောင် လုပ်ခဲ့ပါလျှင် အသင့်ဘက်မှ (ကျေးဇူးပြုခြင်း)ပင် ဖြစ်ပေမည်။ စင်စစ်သော်ကား ကျွန်ုပ်သည် အသင့်အပေါ်၌ ကျပ်တည်းစေရန် လိုလားသည်မဟုတ်ပေ။ အကယ်၍ အလ္လာဟ်အရှင်မြတ် အလိုရှိတော်မူခဲ့ပါလျှင် မျှားမကြာမီ အသင်သည် ကျွန်ုပ်အား သူမွန်သူမြတ်တစ်ဦးဖြစ်ကြောင်း တွေ့ရှိပါလိမ့်မည်ဟု ပြောကြားခဲ့လေ၏။

➤➤ တမန်တော်ရှုအိုက်ဗ်၏ သမီးတော်တစ်ဦးသည် ဖခင်ကြီး၏ ညွှန်ကြားချက်အရ တမန်တော်မူစာထံသို့ ကာယိန္ဒြေ အရှက်သိက္ခာကြီးစွာဖြင့် ရောက်ရှိလာပြီး ဖခင်ကြီးက ဖိတ်ခေါ်ကြောင်း၊ ကျေးဇူးဆပ်လိုကြောင်း ပြောပြလေသည်။ ထိုအခါ တမန်တော်မူစာသည် သမီးတော်အား 'အသင်မ နောက်မှလိုက်ပါလေ၊ ကျွန်ုပ်ရှေ့ကသွားမည်' ဟုဆိုကာ တမန်တော်ရှုအိုက်ဗ်ထံသို့ ရောက်ရှိလာခဲ့လေသည်။ ထို့နောက် မိမိ၏ ဖြစ်ကြောင်းကုန်စင်ကို ပြောပြရာ တမန်တော် ရှုအိုက်ဗ်က 'အသင် မစိုးရိမ်လင့်၊ အသင်သည် မတရား ကျူးကျော်စော်ကားသူများ၏ ဘေးရန်မှလွတ်မြောက်ပြီ' ဟု ပြောဆိုလိုက်လေသည်။ ယင်းသို့ ပြောဆိုခြင်းမှာ မဒ်ယန်သည် ဖစ်ရ်အောင်န်စိုးမိုးသည့် အီဂျစ်နိုင်ငံ၏ လက်အောက်မဟုတ်ခြင်းကြောင့် ဖြစ်သည်။ ဤသို့ဖြင့် တမန်တော်မူစာသည် ဆုတောင်းပြည့် သွားခဲ့သည်သာမက တမန်တော်ရှုအိုက်ဗ်နှင့်အတူ နေထိုင်ခွင့်လည်း ရခဲ့ပေသည်။ ထို့မျှမက ရှေ့အာယတ်တော်တွင် ပါရှိသည့်အတိုင်း တမန်တော် ရှုအိုက်ဗ်၏ သမီးတော်တစ်ပါးနှင့် ထိမ်းမြားခွင့်လည်း ရရှိခဲ့ပေသည်။

قَالَ ذٰلِكَ بَيۡنِىۡ وَبَيۡنَكَ ؕ اَيَّمَا الۡاَجَلَيۡنِ قَضَيۡتُ فَلَا عُدۡوَانَ عَلَىَّ ؕ وَاللّٰهُ عَلٰى مَا نَقُوۡلُ وَكِيۡلٌ ۟ ‏﴿۲۸﴾

၂၈။ ထိုသူ(မူစာ)က 'ဤစည်းကမ်းချက်သည် အသင်နှင့်ကျွန်ုပ်၏စပ်ကြား (အတည်)ဖြစ်ခဲ့လေပြီ။ ကန့်သတ်ပြီးဖြစ်သောကာလအပိုင်းအခြားနှစ်ခုအနက် မည်သည့်ကာလအပိုင်းအခြားကိုမဆို ကျွန်ုပ် ပြည့်စုံအောင် ဆောင်ရွက်ခဲ့ပါလျှင် ကျွန်ုပ်၏အပေါ်၌ မည်သို့မျှ အဓမ္မပြုလုပ်ရန် အကြောင်းမရှိတော့ပြီ။ ထို့ပြင် အလ္လာဟ်အရှင်မြတ်သည် ကျွန်ုပ်တို့ ပြောဆိုကြကုန်သောအကြောင်းကိစ္စနှင့်စပ်လျဉ်း၍ သက်သေဖြစ်တော်မူပါသည်' ဟု ပြောဆိုခဲ့လေသတည်း။

فَلَمَّا قَضٰى مُوۡسَى الۡاَجَلَ وَسَارَ بِاَهۡلِهٖۤ اٰنَسَ مِنۡ جَانِبِ الطُّوۡرِ نَارًا ۚ قَالَ لِاَهۡلِهِ امۡكُثُوۡۤا اِنِّىۡۤ اٰنَسۡتُ نَارًا لَّعَلِّىۡۤ اٰتِيۡكُمۡ مِّنۡهَا بِخَبَرٍ اَوۡ جَذۡوَةٍ مِّنَ النَّارِ لَعَلَّكُمۡ تَصۡطَلُوۡنَ ‏﴿۲۹﴾

၂၉။ ထို့နောက်မူစာသည် ကန့်သတ်၍ထားခဲ့သောကာလအပိုင်းအခြားကို ပြီးမြောက်အောင် ဆောင်ရွက်ခဲ့ပြီး၊ မိမိအိမ်သူအိမ်သားတို့နှင့်အတူ (ခရီး)သွားခဲ့လေရာ ထိုမူစာသည် 'တူရ်' မည်သော တောင်ရှိရာဘက်တွင် မီးရောင်တစ်ခုကို တွေ့မြင်ခဲ့လေသည်။ (ထိုအခါ) ထိုမူစာက မိမိအိမ်သူအိမ်သားတို့အား 'အသင်တို့သည်(ဤနေရာ၌ပင်) စောင့်ဆိုင်း၍ နေရစ်ကြလေကုန်။ ဧကန်အမှန် ကျွန်ုပ် မီးရောင်တစ်ခုကို တွေ့မြင်ရလေပြီ။ ငါသည် ထိုမီးရှိရာမှ တစ်စုံတစ်ရာ သတင်းကိုသော်လည်းကောင်း၊ မီးစ (မီးခဲ)တစ်ခုခုကိုသော်လည်းကောင်း၊ အသင်တို့ မီးလှုံနိုင်ကြရန် ယူဆောင်၍လာနိုင်မည်ဖြစ်သည်ဟု ပြောကြားလေ၏။

فَلَمَّاۤ اَتٰٮهَا نُوۡدِىَ مِنۡ شَاطِیٴِ الۡوَادِ الۡاَيۡمَنِ فِى الۡبُقۡعَةِ الۡمُبٰرَكَةِ مِنَ الشَّجَرَةِ اَنۡ يّٰمُوۡسٰۤى اِنِّىۡۤ اَنَا اللّٰهُ رَبُّ الۡعٰلَمِيۡنَ ۙ‏ ﴿۳۰﴾

၃၀။ ထို့နောက်မူစာသည် ယင်းမီးရှိရာသို့ ရောက်ရှိလတ်သော် ကျက်သရေမင်္ဂလာနှင့် ပြည့်စုံသောနေရာ၌ လက်ယာဘက်ဖြစ်သောတောင်ကြားအရပ်၏ အစွန်းရှိ သစ်ပင်(တစ်ပင်)မှ (ဤသို့) အသံကြားခဲ့ရလေ၏။ 'အို-မူစာ၊ ဧကန်မလွဲ ငါအရှင်မြတ်သည် စကြာဝဠာခပ်သိမ်းတို့ကို မွေးမြူဖန်ဆင်းတော်မူသော အလ္လာဟ်အရှင်မြတ်ပင် ဖြစ်တော်မူသည်'။

وَأَنْ أَلْقِ عَصَاكَ ۚ فَلَمَّا رَآهَا
تَهْتَزُّ كَأَنَّهَا جَانٌّ وَلَّىٰ
مُدْبِرًا وَلَمْ يُعَقِّبْ ۚ يَا مُوسَىٰ
أَقْبِلْ وَلَا تَخَفْ ۖ إِنَّكَ مِنَ
الْآمِنِينَ ﴿٣١﴾

၃၁။ ထိုမှတပါး အသင်သည် မိမိတောင်ဝှေးကို ပစ်ချပါလေ။ တစ်ဖန် ထိုမူစာသည် ယင်းတောင်ဝှေးမှာ မြွေဖြစ်ဘိသကဲ့သို့ တွန့်လိမ် လှုပ်ရှားလျက်ရှိသည်ကို တွေ့မြင်ခဲ့လေသော်၊ ပြန်လှည့်၍ပင် မကြည့်တော့ဘဲ နောက်သို့လှည့်၍ ထွက်သွားခဲ့လေ၏။

(ထိုအခါ အလ္လာဟ်အရှင်မြတ်အထံတော်မှ ဤသို့အမိန့်တော်လာရှိခဲ့၏)။ အို–မူစာ၊ အသင်သည် ရှေ့သို့လာခဲ့ပါလေ။ ၎င်းပြင် အသင်သည် ကြောက်ရွံ့စိုးရိမ်ခြင်း မရှိပါလေနှင့်။ ဧကန်မလွဲ အသင်သည် ဘေးအန္တရာယ် ကင်းရှင်းသူတစ်ဦး ဖြစ်ပါသည်။

اسْلُكْ يَدَكَ فِي جَيْبِكَ
تَخْرُجْ بَيْضَاءَ مِنْ غَيْرِ
سُوءٍ وَاضْمُمْ إِلَيْكَ
جَنَاحَكَ مِنَ الرَّهْبِ ۖ
فَذَانِكَ بُرْهَانَانِ مِنْ رَبِّكَ
إِلَىٰ فِرْعَوْنَ وَمَلَئِهِ ۚ
إِنَّهُمْ كَانُوا قَوْمًا فَاسِقِينَ ﴿٣٢﴾

၃၂။ အသင်သည် မိမိလက်ကို မိမိရင်ကြားသို့ ထည့်သွင်းပါလေ။ (ထိုအခါ)ထိုလက်မှာ အပြစ်အနာ အဆာကင်းရှင်းစွာ လင်းဝင်းတောက်ပလျက် ထွက်၍ လာပေမည်။ ၎င်းပြင် အသင်သည် ကြောက်ရွံ့စိုးရိမ်မှု ကင်းအံ့သောငှာ မိမိလက်ကို မိမိကိုယ်နှင့် (ရင်နှင့် လည်းကောင်း၊ချိုင်းနှင့်လည်းကောင်း၊) (ပြန်၍)ပူးကပ် ထားပါလေ။

ဤနှစ်ခုသည် အသင့်အား ဖန်ဆင်း မွေးမြူ တော်မူသော အရှင်မြတ်ထံတော်မှ ဖစ်ရ်အောင်န်၏ ထံသို့လည်းကောင်း၊ ထိုဖစ်ရ်အောင်န်၏မှူးမတ်တို့ ထံသို့လည်းကောင်း၊ (ဆောင်ကြဉ်းရန်)ထင်ရှားစွာ သော သာဓကနှစ်ရပ်ပင် ဖြစ်ကြပေသည်။ ဧကန်မလွဲ ၎င်းတို့မှာ အမိန့်တော်ကို သွေဖည်ကြကုန်သော အမျိုးသားများပင် ဖြစ်ကြကုန်သတည်း။

قَالَ رَبِّ إِنِّي قَتَلْتُ مِنْهُمْ

၃၃။ ထိုမူစာသည်(ဤသို့) လျှောက်ထား ပန်ကြား ခဲ့လေ၏။ အို–ကျွန်တော်မျိုးအား ဖန်ဆင်းမွေးမြူတော်

نَفۡسًا فَأَخَافُ أَن يَقۡتُلُونِ ۝٣٣

မှုသောအရှင်မြတ်၊ ဧကန်စင်စစ် ကျွန်တော်မျိုးသည် ၎င်းတို့အနက်လူတစ်ယောက်အားသတ်ဖြတ်မိခဲ့သည် ဖြစ်ရကား၊ ၎င်းတို့သည်ကျွန်တော်မျိုးအား သတ်ဖြတ်ကြမည်ကို ကျွန်တော်မျိုး စိုးရိမ်မိပါသည်။

وَأَخِي هَٰرُونُ هُوَ أَفۡصَحُ مِنِّي لِسَانًا فَأَرۡسِلۡهُ مَعِيَ رِدۡءًا يُصَدِّقُنِيٓۖ إِنِّيٓ أَخَافُ أَن يُكَذِّبُونِ ۝٣٤

၃၄။ စင်စစ် ကျွန်တော်မျိုး၏နောင်တော် ဟာရွန်မှာမူကား၊ ၎င်းမှာ စကားပြောဆိုရာ၌ ကျွန်တော်မျိုးထက် ပို၍ပင် စကားပီသ အာစလျှာစ ကောင်းသူဖြစ်ပါ၏။ အရှင်မြတ်သည် ထိုနောင်တော်အားလည်း ကျွန်တော်မျိုးနှင့်အတူ ကျွန်တော်မျိုးအား ထောက်ခံ (ပြောဆိုနိုင်ရန်) ကူညီရိုင်းပင်းသူအဖြစ် စေလွှတ်တော်မူပါ။ ဧကန်မလွဲ ကျွန်တော်မျိုးသည် မိမိအား ၎င်းတို့က မဟုတ်မမှန်ဟူ၍ စွပ်စွဲငြင်းပယ်ကြမည်ကို စိုးရိမ်မိပါသည်။

قَالَ سَنَشُدُّ عَضُدَكَ بِأَخِيكَ وَنَجۡعَلُ لَكُمَا سُلۡطَٰنًا فَلَا يَصِلُونَ إِلَيۡكُمَا ۚ بِـَٔايَٰتِنَآ أَنتُمَا وَمَنِ ٱتَّبَعَكُمَا ٱلۡغَٰلِبُونَ ۝٣٥

၃၅။ ထိုအရှင်မြတ်က ယခုပင် ငါအရှင်မြတ်သည် အသင်၏နောင်တော်ဖြင့် အသင်၏ လက်ရုံးကိုတိုး၍ အားရှိစေတော်မူမည်။ ထိုမှတပါး ငါအရှင်မြတ်သည် အသင်တို့နှစ်ဦးအား ဂုဏ်အရှိန်တစ်မျိုးကို ချီးမြှင့်ပေးသနားတော်မူမည်ဖြစ်ရကား ၎င်းတို့သည် အသင်တို့နှစ်ဦးအား မည်သို့မျှ ထိပါးနိုင်ကြမည်မဟုတ်ပေ။ (အသင်တို့နှစ်ဦးသည်) ငါအရှင်မြတ်၏ သက်သေလက္ခဏာတော် များနှင့်တကွ (သွားကြလေကုန်)။ အသင်တို့နှစ်ဦးနှင့်တကွ အသင်တို့နှစ်ဦး၏ နောက်သို့ လိုက်ကြသောသူတို့ပင် အောင်နိုင်သူများ ဖြစ်ကြကုန်အံ့သတည်း။ ၁

---

(၁) **တမန်တော်မူစာ၏ ပန်ကြားချက် ၂ ရပ်ကို ဖြည့်စွမ်းပေးတော်မူခြင်း။**

အလ္လာဟ်အရှင်မြတ်သည် တမန်တော် မူစာအား ယင်းသို့ တန်ခိုးတော်၂ပါး ချီးမြှင့်၍ ဖစ်ရ်အောင်န်နှင့် ၎င်း၏အကြီးအကဲများထံ တရားဓမ္မဟောကြားရန် စေလွှတ်တော်မူသည့်အခါ တမန်တော်မူစာက မိမိ၏ ➤➤

فَلَمَّا جَآءَهُم مُّوسَىٰ بِـَٔايَـٰتِنَا بَيِّنَـٰتٍ قَالُوا۟ مَا هَـٰذَآ إِلَّا سِحْرٌ مُّفْتَرًى وَمَا سَمِعْنَا بِهَـٰذَا فِىٓ ءَابَآئِنَا ٱلْأَوَّلِينَ ﴿٣٦﴾

၃၆။ ထို့နောက် မူစာသည် ၎င်းတို့ထံ ငါ အရှင်မြတ်၏ ထင်ရှားစွာသော သက်သေလက္ခဏာ တော်များကိုဆောင်ကြဉ်းခဲ့လေရာ ၎င်းတို့က 'ဤသည် အသစ် တီထွင်ဖန်တီးထားသော ပဉ္စလက်အတတ်မျှ သာ ဖြစ်သည်။ စင်စစ် ကျွန်ုပ်တို့သည် မိမိတို့၏ ရှေးဟောင်း အဘ၊ဘိုးဘေးတို့(လက်ထက်)တွင် ဤသို့ သောစကား (ရှိခဲ့ဖူးသည်ဟူ၍လည်း) မကြားခဲ့ဖူး ကြပါဟု ဆိုကြကုန်၏။

وَقَالَ مُوسَىٰ رَبِّىٓ أَعْلَمُ بِمَن جَآءَ بِٱلْهُدَىٰ مِنْ عِندِهِۦ وَمَن تَكُونُ لَهُۥ عَـٰقِبَةُ ٱلدَّارِ ۖ إِنَّهُۥ لَا يُفْلِحُ ٱلظَّـٰلِمُونَ ﴿٣٧﴾

၃၇။ ၎င်းပြင် မူစာက ပြောကြားခဲ့၏။ ငါ့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်သည် မိမိ အထံတော်မှ မည်သူတရားလမ်းညွှန်ကို ဆောင်ကြဉ်း ခဲ့သည်ကိုလည်းကောင်း၊ ဤလောကီဘဝ၏နောက်ဆုံး အကျိုးသည် မည်သူ့အဖို့ ရှိမည်ကိုလည်းကောင်း၊ အသိတော်မူဆုံးပင် ဖြစ်တော်မူ၏။ စေကန်အမှန် မတရားကျူးလွန်သော သူတို့သည် အောင်မြင်မှုကို ရရှိကြမည် မဟုတ်ပေတကား။

➤➤ အတိတ်ကို တွေးကာ အလ္လာဟ်အရှင်မြတ် ထံတော်၌ ကျွန်တော်မျိုးသည် ယခင်က (Copt)တစ်ဦးအား သတ်ဖြတ်မိခဲ့ရာ ဖစ်ရ်အောင်န်နှင့် ၎င်း၏အမျိုးသားများသည် မိမိအား ရောက်မဆိုက် သတ်ဖြတ်ကြမည်ကို စိုးရိမ်ကြောင်း၊ တန်ခိုးတော်များ အထင်အရှား ပြပါလျက် ဖစ်ရ်အောင်န်နှင့် ၎င်း၏နောက်ပါများ ဖွတ်မိုတ် ငြင်းပယ်ကြပါက၊ သို့ ငြင်းပယ်ကြသည့်အတွက် စကားအချေအတင် ပြောဆိုရပါက မိမိမှာ သွက်လက်စွာ စကားမပြောဆိုနိုင်ရာ၊ မိမိထက် အာစ၊လျှာစကောင်း၍ သွက်လက်စွာ စကားပြောဆိုနိုင်သော နောင်တော်ဟာရူန်ကို မိမိအား ကူညီရိုင်းပင်းသူအဖြစ် မိမိနှင့်အတူတကွ စေလွှတ်ပေးတော် မူပါမည့်အကြောင်း လျှောက်ထားပန်ကြားရာ အလ္လာဟ်အရှင်မြတ်သည် တမန်တော်မူစာ၏ ပန်ကြားချက် ၂ရပ်လုံးကို ဤအာယတ်တော်များတွင် လာရှိသည့် အတိုင်း လက်ခံဖြည့်စွမ်းပေးတော် မူလိုက်လေသည်။

ဤအကြောင်း ကုရ်အာန် ( ၂၀ : ၂၅ - ၃၆ )တွင် ပါရှိခဲ့ချေပြီ။ သက်ဆိုင်ရာ အဖွင့်များလည်း ရေးသားခဲ့ပေပြီ။

وَقَالَ فِرْعَوْنُ يَٰٓأَيُّهَا ٱلْمَلَأُ مَا عَلِمْتُ لَكُم مِّنْ إِلَٰهٍ غَيْرِى فَأَوْقِدْ لِى يَٰهَٰمَٰنُ عَلَى ٱلطِّينِ فَٱجْعَل لِّى صَرْحًا لَّعَلِّىٓ أَطَّلِعُ إِلَىٰٓ إِلَٰهِ مُوسَىٰ وَإِنِّى لَأَظُنُّهُۥ مِنَ ٱلْكَٰذِبِينَ ﴿٣٨﴾

၃၈။ ထို့ပြင် ဖစ်ရ်အောင်န်က ပြောဆိုလေ၏။ အို-မှူးမတ်တို့၊ ကျွန်ုပ်သည် မိမိအပြင် အသင်တို့၌ အခြားကိုးကွယ်ရာရှိသည်ဟူ၍မသိပေ။ သို့ဖြစ်ပေရာ အို-'ဟာမာန်'၊ အသင်သည် ကျွန်ုပ်၏အဖို့ ရွှံ့မြေကို မီးဖြင့်ဖုတ်ပြီးလျှင် ကျွန်ုပ်၏အဖို့ မြင့်မားသော အဆောက်အအုံတစ်ခုကို ပြုလုပ်လော့။ သို့မှသာလျှင် ကျွန်ုပ်သည် မူစာ၏ကိုးကွယ်ရာ အရှင်အား ကြည့်ရှုနိုင်ပေမည်။ သို့ရာတွင်ဧကန်မလွဲ ကျွန်ုပ်သည် ထိုမူစာအား မုသာဝါဒီဖြစ်သည်ဟူ၍ ထင်မှတ်ပေသည်[၁]

---

(၁) **ဖစ်ရ်အောင်န်၏ ဉာဏ်နီ။**

အတိတ်ခေတ် အီဂျစ်ပြည် နိုင်ငံရင်းသားများဖြစ်သော (Copt)တို့၏ ယုံကြည်စွဲလမ်းမှု တစ်ရပ်မှာ ဖစ်ရ်အောင်န်များသည် [အောင်တာရ်] ဘုရားသခင် ဝင်စားသူများ ဖြစ်ခဲ့ကြသည်။ နေသည် [အောင်တာရ်]များတွင် အကြီးဆုံးဖြစ်၍ ဘုရင်သည် နေ၏ အသက်ထင်ရှား ရှိနေသော [အောင်တာရ်]ပင် ဖြစ်ခဲ့သည်။

တမန်တော်မူစာနှင့် ခေတ်ပြိုင်ဖြစ်သော ဖစ်ရ်အောင်န်သည်လည်း ၎င်း၏ မျိုးနွယ်ဝင်များထဲတွင် ဘုရားတစ်ဆူ ဖြစ်ရှိနေခဲ့၏။ ဖစ်ရ်အောင်န်ကလည်း 'ငါသည်အသင်တို့၏ အကြီးဆုံးဘုရား ဖြစ်သည်'ဟု ကြွေးကြော်ခဲ့၏။ ကြည့်-ကုရ်အာန် (၇၉း၂၄)။ ဖစ်ရ်အောင်န် ဖြားယောင်း ကြွေးကြော်ခဲ့သည့်အတိုင်း ၎င်း၏ အမျိုးသားများကလည်း ၎င်းအား ဘုရားတစ်ဆူ ဟူ၍ပင် ထင်မှတ်ကိုးကွယ်နေခဲ့ကြ၏။ ကြည့်-ကုရ်အာန် (၄၃း၅၄)။

ထိုသည့်အခြေအနေတွင် တမန်တော်မူစာ ပွင့်ပေါ်လာပြီး၊ ဖစ်ရ်အောင်န်သည် ကိုးကွယ်ဆည်းကပ်ရာ အရှင်သခင် မဟုတ်ကြောင်း၊ အမှန်တကယ် ဆည်းကပ်ကိုးကွယ်ရာ အရှင်သခင်မှာ စကြာဝဠာအဝှန်းကို စတင်ဖန်ဆင်းတော်မူသော အတိုင်းအဆမရှိ တန်ခိုးတော်၊ဉာဏ်တော်နှင့် ပြည့်စုံတော်မူသော၊ ဂုဏ်ရည်တု ကင်းသော၊ တစ်ဆူတည်း ဖြစ်တော်မူသော 'အလ္လာဟ်' အရှင်မြတ်သာလျှင် ဖြစ်တော်မူကြောင်းကို ဟောကြား၍ ထိုအရှင်မြတ်၏ ထင်ရှားသော တန်ခိုးတော်များကို ပြသသောအခါ ဖစ်ရ်အောင်န်သည် မိမိ၏ (Copt) အမျိုးသားများ တမန်တော်မူစာ၏တရား လက်ခံနာယူသွားကြမည်ကို စိုးရိမ်မိ၏။

ထိုအခါ ဖစ်ရ်အောင်န်သည် မိမိ၏အမျိုးသားများကို လှည့်စား ဖြားယောင်းနိုင်ရန်အတွက် ဉာဏ်နီ၊ ဉာဏ်ဝါထုတ်၍ 'အို... မှူးမတ်တို့၊ ငါသည် မိမိအပြင် အသင်တို့၌ အခြားကိုးကွယ်ရာ အရှင်သခင် ရှိသည်ဟူ၍မသိ။ အို... ဟာမာန်။ အသင်သည် ငါ့အဖို့ ရွှံ့မြေကိုမီးဖုတ်၍ အုတ်လုပ်ပြီး အလွန်မြင့်စွင့်သော အဆောက်အအုံတစ်ခု တည်ဆောက်လေ၊ ငါသည် ထိုအဆောက်အအုံပေါ်သို့ တက်၍ မူစာ၏ကိုးကွယ်ရာ အရှင်သခင်ကို ကြည့်ရှုမည်။ အမှန်မှာ မူစာသည် မုသာဝါဒီတစ်ဦး ဖြစ်သည်ဟူ၍သာ ငါထင်သည်'ဟု ပြက်ရယ် ပြောဆိုလိုက်လေသည်။

وَاسْتَكْبَرَ هُوَ وَجُنُوْدُهٗ فِي الْاَرْضِ بِغَيْرِ الْحَقِّ وَظَنُّوْٓا اَنَّهُمْ اِلَيْنَا لَا يُرْجَعُوْنَ ﴿٣٩﴾

၃၉။ စင်စစ်သော်ကား ထိုဖစ်ရ်အောင်န်သည်လည်း ကောင်း၊ ဖစ်ရ်အောင်န်၏ရဲမက်တို့သည်လည်းကောင်း၊ တိုင်းပြည်တွင် မတရားသဖြင့် မာန်မာနထောင်လွှားခဲ့ ကြသည်သာမက၊ ၎င်းတို့သည် ငါအရှင်မြတ် အထံ တော်သို့ ပြန်လည်ရောက်ရှိကြရမည် မဟုတ်ဟု ထင်မှတ်နေခဲ့ကြကုန်၏။

فَاَخَذْنٰهُ وَجُنُوْدَهٗ فَنَبَذْنٰهُمْ فِي الْيَمِّ ۚ فَانْظُرْ كَيْفَ كَانَ عَاقِبَةُ الظّٰلِمِيْنَ ﴿٤٠﴾

၄၀။ သို့ဖြစ်ပေရာ ငါအရှင်မြတ်သည် ထို ဖစ်ရ် အောင်န်အားလည်းကောင်း၊ ထိုဖစ်ရ်အောင်န်၏ရဲမက် တို့အားလည်းကောင်း၊ ဖမ်းဆီးကာ သမုဒ္ဒရာပင်လယ် ထဲ၌ ပစ်ချတော်မူခဲ့၏။ သို့ဖြစ်ပေရာ (အို-နဗီတမန် တော်၊) မတရားသောသူတို့၏ နောက်ဆုံးအကျိုးသည် မည်သို့မည်ပုံ ရှိခဲ့သည်ကို အသင်သည်ကြည့်ရှုပါလေ။

وَجَعَلْنٰهُمْ اَئِمَّةً يَّدْعُوْنَ اِلَى النَّارِ ۚ وَيَوْمَ الْقِيٰمَةِ لَا يُنْصَرُوْنَ ﴿٤١﴾

၄၁။ စင်စစ်ငါအရှင်မြတ်သည် ၎င်းတို့အား ငရဲသို့ ဖိတ်ခေါ်ကြကုန်သော ရှေ့ဆောင်ရှေ့ရပ်များအဖြစ် ပြုလုပ်တော်မူခဲ့၏။ ၎င်းပြင် 'ကိယာမတ်' ရှင်ပြန် ထမည့်နေ့တွင် ထိုသူတို့သည် ကူညီစောင်မခြင်းကို လုံးဝခံကြရမည်မဟုတ်ပေ။

وَاَتْبَعْنٰهُمْ فِيْ هٰذِهِ الدُّنْيَا لَعْنَةً ۚ وَيَوْمَ الْقِيٰمَةِ هُمْ مِّنَ الْمَقْبُوْحِيْنَ ﴿٤٢﴾

၄၂။ စင်စစ် ငါအရှင်မြတ်သည် ဤပစ္စုပ္ပန်လောက ၌လည်း ကရုဏာတော်မှ ကင်းဝေးမှုကို ၎င်းတို့၏ နောက်မှ ထပ်ကြပ်မကွာ လိုက်ပါစေတော်မူခဲ့၏။ 'ကိယာမတ်'ရှင်ပြန်ထမည့်နေ့တွင်လည်း ၎င်းတို့သည် အခြေအနေ အလွန်ဆိုးရွားသူတို့အနက်မှပင် ဖြစ်ကြ ကုန်အံ့သတည်း။

وَلَقَدْ اٰتَيْنَا مُوْسَى الْكِتٰبَ مِنْۢ بَعْدِ مَآ اَهْلَكْنَا

၄၃။ ၎င်းပြင် မချွတ်မလွဲ ငါအရှင်မြတ်သည် ရှေး ဟောင်းမျိုးဆက်များကို ဖျက်ဆီးတော်မူခဲ့ပြီးနောက်

ٱلْقُرُونَ ٱلْأُولَىٰ بَصَآئِرَ لِلنَّاسِ وَهُدًى وَرَحْمَةً لَّعَلَّهُمْ يَتَذَكَّرُونَ ﴿٤٣﴾

လူတို့အဖို့ တရားရကြအံ့သောငှာ ထင်ရှားစွာသော သက်သေခံများအဖြစ်လည်းကောင်း၊ တရားလမ်းညွှန်အဖြစ်လည်းကောင်း၊ ကရုဏာတော်အဖြစ်လည်းကောင်း၊ ငါအရှင်မြတ်သည် မူစာအား ကျမ်းဂန်ကို ချီးမြှင့်ပေးသနားတော်မူခဲ့၏။ ၁

وَمَا كُنتَ بِجَانِبِ ٱلْغَرْبِيِّ إِذْ قَضَيْنَآ إِلَىٰ مُوسَى ٱلْأَمْرَ وَمَا كُنتَ مِنَ ٱلشَّٰهِدِينَ ﴿٤٤﴾

၄၄။ စင်စစ်သော်ကား (အို-တမန်တော်၊) ငါအရှင်မြတ်သည် မူစာ၏ထံသို့ အမိန့်တော်(များ)ကို ထုတ်ပြန်တော်မူခဲ့စဉ်အခါ၌ အသင်သည် (တောင်၏) အနောက်ဘက်အရပ်၌ ရှိခဲ့သည်လည်းမဟုတ်ပေ။ ထိုနည်းတူစွာ အသင်သည် ကြည့်ရှုသောသူတို့တွင် အပါအဝင် ဖြစ်ခဲ့သည်လည်း မဟုတ်ပေ။ ၂

---

**(၁) တမန်တော်အသီးသီးတို့အား စေလွှတ်တော်မူ၍ နောက်ဆုံးတွင် တမန်တော်မြတ် မုဟမ္မဒ်အား စေလွှတ်တော်မူခြင်း။**

လူသားတို့အား တရားရေအေးအမြိုက်ဆေး တိုက်ကျွေးရန်အလို့ငှာ ခေတ်တိုင်း လူမျိုးတိုင်းလိုလိုမှာပင် တမန်တော်များအသီးသီး ပွင့်ပေါ်လာခဲ့ကြ၏။ တမန်တော်နူဟ်၏ အမျိုးသားများ၊ တမန်တော်လူတွ်၏ အမျိုးသားများ၊ တမန်တော်ဟူဒ်၏ အမျိုးသားများ၊ တမန်တော်ဆွာလိဟ်၏ အမျိုးသားများ ... အသီးသီး ကွပ်မျက်ခြင်း ခံကြရပြီးနောက်ပိုင်းတွင် သက်ဆိုင်ရာ တမန်တော်များ၏ တရားတော်များသည်လည်း ယိုယွင်းပျောက်ပျက်သွားခဲ့၏။

လူသားတို့အဖို့ တရားဓမ္မ လိုအပ်လာခဲ့၏။ ထိုအခါ အလ္လာဟ်အရှင်မြတ်သည် တမန်တော်မူစာအား ပွင့်ပေါ်စေတော်မူ၍ တရားရဖွယ်ရာ၊ ဆင်ခြင်ဖွယ်ရာ သက်သေလက္ခဏာများ ပါရှိသော၊ တရားဓမ္မလည်းဖြစ်သော၊ ကရုဏာလည်းမည်သော 'တောင်ရာတ်'ကျမ်းကို ချပေးတော်မူခဲ့၏။

တမန်တော်မူစာ ကွယ်လွန်အနိစ္စ ရောက်ပြီးနောက် တောင်ရာတ် ကျမ်းသည်လည်း ယခင်နည်းတူ ယင်းကျမ်းကို လက်ခံနာယူ ကျင့်မူသူများ၏ ပေါ့လျော့မှု၊ ကပြောင်းကပြန် ပြုလုပ်မှုများကြောင့် ယိုယွင်းပပျောက်သွားခဲ့ရပြန်၏။ ထို့နောက် အလ္လာဟ်အရှင်မြတ်သည် မျိုးနွယ်ဆက် အသီးသီးကို ဖန်ဆင်းတော်မူ၍ သက်ဆိုင်ရာ တမန်တော်များအား ပွင့်ပေါ်စေတော်မူခဲ့ပြန်၏။ သက်ဆိုင်ရာ တရားတော်များကိုလည်း ချပေးတော်မူခဲ့၏။ ဤသို့အားဖြင့် နှစ်ပရိစ္ဆေဒ အတော်ကြာညောင်းခဲ့၏။ ယင်းသည့်တမန်တော်များ ကွယ်လွန်သေဆုံးသွားခဲ့ကြသောအခါ သက်ဆိုင်ရာ တရားတော်များသည်လည်း ယိုယွင်း ပျောက်ပျက်သွားခဲ့ပြန်၏။ လူသားတို့အဖို့ တရားဓမ္မသည် အထူးလိုအပ်လာပြန်ခဲ့၏။ နောက်ဆုံးတွင် အလ္လာဟ်အရှင်မြတ်သည် တမန်တော်မြတ် မုဟမ္မဒ် (ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)အား နောက်ဆုံး တမန်တော်အဖြစ် စေလွှတ်တော်မူ၍ ကမ္ဘာတစ်သက် တည်ရှိမည်ဖြစ်သော ကုရ်အာန်ကျမ်းမြတ်ကို ထုတ်ပြန် ချမှတ်တော်မူလိုက်လေသည်။

وَلَٰكِنَّآ أَنشَأْنَا قُرُونًا فَتَطَاوَلَ عَلَيْهِمُ ٱلْعُمُرُ ۚ وَمَا كُنتَ ثَاوِيًا فِىٓ أَهْلِ مَدْيَنَ تَتْلُوا۟ عَلَيْهِمْ ءَايَٰتِنَا وَلَٰكِنَّا كُنَّا مُرْسِلِينَ ۝٤٥

၄၅။ သို့ရာတွင် ငါအရှင်မြတ်သည် မြောက်မြားစွာသော မျိုးဆက်တို့ကို ပေါက်ပွားစေတော်မူခဲ့၏။ ၎င်းတို့အပေါ်၌ နှစ်ပရိစ္ဆေဒလည်း ကြာညောင်းခဲ့၏။ ထိုမှတပါး (အို-တမန်တော်၊) အသင်သည် မဒ်ယန်မြို့သားတို့တွင် နေထိုင်ကာ ၎င်းတို့ရှေ့ဝယ် ငါအရှင်မြတ်၏ အာယတ်တော်များကို ဖတ်ကြားလျက်ရှိခဲ့ဖူးသည်လည်းမဟုတ်ပေ။ သို့ရာတွင် ငါအရှင်မြတ်သည် (အသင့်အားရစူလ်တမန်တော်အဖြစ်) စေလွှတ်တော်မူမည့် အရှင်မြတ်ပင် ဖြစ်တော်မူသည်။

وَمَا كُنتَ بِجَانِبِ ٱلطُّورِ إِذْ نَادَيْنَا وَلَٰكِن رَّحْمَةً مِّن رَّبِّكَ لِتُنذِرَ قَوْمًا مَّآ أَتَىٰهُم

၄၆။ ၎င်းပြင် ငါအရှင်မြတ်သည် (မူစာအား) ဟစ်ခေါ်တော်မူခဲ့စဉ်အခါတွင် အသင်သည် 'တူရ်' တောင်၏နံဘေး၌ ရှိခဲ့သည်လည်းမဟုတ်ပေ။ သို့ရာတွင်အသင်သည် မိမိအား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၏ကရုဏာတော်ဖြင့် အကြင်အမျိုးသားတို့

---

**၂ တမန်တော်မြတ် တမန်တော်ဖြစ်ကြောင်း အထောက်အထားတစ်ရပ်။**

တမန်တော်မြတ်သည် အလ္လာဟ်အရှင်မြတ်၏ တမန်တော် အစစ်အမှန်ဖြစ်ကြောင်း အထောက်အထား အမြောက်အမြားရှိသည်။ ယင်းသည့် အထောက်အထားများတွင် တမန်တော်မူစာ၏ ဖြစ်ကြောင်းကုန်စင်ကို တိကျမှန်ကန်စွာ ပြောပြတော်မူနိုင်ခြင်းသည်လည်း အထောက်အထားတစ်ရပ် အပါအဝင် ဖြစ်သည်။ အဘယ့်ကြောင့်ဆိုသော် တမန်တော်မူစာအား အလ္လာဟ်အရှင်မြတ်က တောင်ရာတ် ချီးမြှင့်တော်မူစဉ် တမန်တော်မြတ်သည် တူရ်၏ အနောက်ဘက်၌ ရှိနေခဲ့သည်လည်း မဟုတ်၊ တမန်တော်မြတ်သည် ထိုခေတ် ထိုအခါတွင် ရှိနေခဲ့ကြသူများတွင် ရှိနေခဲ့သည်လည်း မဟုတ်၊ တမန်တော်မြတ်သည် မဒ်ယန်မြို့သူမြို့သားများတွင် နေထိုင်ကာ တရားတော်များကို ဟောကြားနေခဲ့ဖူးသည်လည်း မဟုတ်။

အလ္လာဟ်အရှင်မြတ်က တမန်တော်မူစာအား အသံပြုတော်မူခဲ့စဉ်ကလည်း တမန်တော်မြတ်သည် တူရ်၏နံဘေး၌ ရှိနေခဲ့သည်လည်း မဟုတ်။ ထို့ပြင်တစ်ဝ တမန်တော်မူစာနှင့် တမန်တော်မြတ်၏ စပ်ကြားတွင် နှစ်ပရိစ္ဆေဒလည်း အမြောက်အမြား ကွာခြားလျက်ရှိနေသည်။ နှစ်ပရိစ္ဆေဒကြာညောင်းလှပြီ ဖြစ်သည့်အတွက် အတိတ်ခေတ် ကျန်းဂန်များလည်း ယိုယွင်းပျောက်ပျက်လျက် ရှိချေပြီ။ ထို့ပြင်တစ်ဝ တမန်တော်မြတ်သည် 'အွန်မီ' ဖြစ်တော်မူသည်။ လူသားတို့အနက် မည်သူ့ထံ၌မျှ ချဉ်းကပ်၍ ပညာဆည်းပူးခဲ့သည် ဟူ၍လည်း အလျှင်းမရှိ။ သို့ဖြစ်ပါလျက် တမန်တော်မူစာ၏ ဖြစ်ကြောင်းကုန်စင်ကို တိကျမှန်ကန်စွာ ပြောပြနိုင်တော်မူခြင်းမှာ အလ္လာဟ်အရှင်မြတ်ထံတော်မှ တမန်တော်မြတ်ထံသို့ ကျရောက်လာခဲ့သော 'ဝဟီ'အမိန့်တော်များ၏ကျေးဇူးပင်။

مِّن نَّذِيرٍ مِّن قَبْلِكَ لَعَلَّهُمْ يَتَذَكَّرُونَ ﴿٤٦﴾

အား သတိပေးနှိုးဆော်အံ့သောငှာ (နဗီတမန်တော်အဖြစ် ချီးမြှင့်တော်မူခြင်းကို ခံခဲ့ရလေသည်)။ ထိုအမျိုးသားတို့ထံ အသင့်အလျှင် သတိပေးနှိုးဆော်သူ တစ်ဦးမျှပင် ရောက်ရှိ၍လာခဲ့သည် မဟုတ်ပေ။ သို့မှသာလျှင် ၎င်းတို့သည် တရားရကြပေမည်။

وَلَوْلَا أَن تُصِيبَهُم مُّصِيبَةٌ بِمَا قَدَّمَتْ أَيْدِيهِمْ فَيَقُولُوا رَبَّنَا لَوْلَا أَرْسَلْتَ إِلَيْنَا رَسُولًا فَنَتَّبِعَ آيَاتِكَ وَنَكُونَ مِنَ الْمُؤْمِنِينَ ﴿٤٧﴾

၄၇။ စင်စစ်သော်ကား အကယ်၍သာ ၎င်းတို့အပေါ်၌ ၎င်းတို့ကြိုတင်ပို့နှင့်ခဲ့ကြသော(ပြစ်မှုများ)ကြောင့် ဒုက္ခတစ်စုံတစ်ရာ သက်ရောက်လာသောအခါ ၎င်းတို့က အို-ကျွန်တော်မျိုးတို့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်၊ အရှင်မြတ်သည် အဘယ့်ကြောင့် ကျွန်တော်မျိုးတို့ထံ ရစူလ်တမန်တော်တစ်ပါးပါးကို စေလွှတ်တော်မမူခဲ့ပါသနည်း။

သို့စေလွှတ်တော်မူခဲ့ပါလျှင် ကျွန်တော်မျိုးတို့သည် အရှင်မြတ်၏ အမိန့်တော်များကို လိုက်နာကြမည်ဖြစ်ပါသည်။ ထို့ပြင် ကျွန်တော်မျိုးတို့သည် 'မုအ်မင်န်' သက်ဝင်ယုံကြည် သူများတွင် အပါအဝင်ဖြစ်ကြပါမည်ဟု မပြောဆိုကြပါလျှင် (ငါအရှင်မြတ်သည် ရစူလ်တမန်တော်ကို စေလွှတ်တော်မူမည် မဟုတ်ပေ)။

فَلَمَّا جَاءَهُمُ الْحَقُّ مِنْ عِندِنَا قَالُوا لَوْلَا أُوتِيَ مِثْلَ مَا أُوتِيَ مُوسَىٰ أَوَلَمْ يَكْفُرُوا بِمَا أُوتِيَ مُوسَىٰ

၄၈။ သို့ရာတွင်၎င်းတို့ထံသို့ ငါအရှင်မြတ်ထံတော်မှ အမှန်တရားသည်ရောက်ရှိ၍လာသောအခါ ၎င်းတို့က အဘယ့်ကြောင့် (ဤရစူလ်တမန်တော်သည်) မူစာ ချီးမြှင့် ပေးသနားတော်မူခြင်း ခံခဲ့ရသကဲ့သို့သော အရာကို ချီးမြှင့်ပေးသနားတော်မူခြင်း မခံခဲ့ရပါသနည်းဟု ပြောဆိုခဲ့ကြကုန်၏။

مِنْ قَبْلُ ۚ قَالُوا سِحْرَانِ تَظَاهَرَا ۗ وَقَالُوا إِنَّا بِكُلٍّ كَافِرُونَ ﴿٤٨﴾

*ၛင်းတို့သည် ယခင်ကတမန်တော်မူစာ ချီးမြှင့်ပေးသနားတော်မူခြင်း ခံခဲ့ရသောအရာကို ငြင်းပယ်ခဲ့ကြသည်မဟုတ်လော၊* [၁] ၎င်းတို့က (တောင်ရာတ်ကျမ်းနှင့်ကုရ်အာန်ကျမ်းမြတ်)နှစ်ခုလုံးပင် အချင်းချင်း တစ်ခုကိုတစ်ခု ရိုင်းပင်း ထောက်ခံသော ပဉ္စလက် အတတ်ဖြစ်သည်ဟု ပြောဆိုခဲ့ကြကုန်၏။ ထိုမှတပါး ၎င်းတို့က ဧကန်စင်စစ် ကျွန်ုပ်တို့သည် အားလုံးကို ငြင်းပယ်သူများပင် ဖြစ်ကြသည်ဟု ပြောဆိုခဲ့ကြကုန်၏။

قُلْ فَأْتُوا بِكِتَابٍ مِّنْ عِندِ اللَّهِ هُوَ أَهْدَىٰ مِنْهُمَا أَتَّبِعْهُ إِن كُنتُمْ صَادِقِينَ ﴿٤٩﴾

၄၉။ (အို-နဗီတမန်တော်၊) အသင်သည် (၎င်းတို့အား)(အချင်းတို့၊) အကယ်၍ အသင်တို့သည် သစ္စာဝါဒီများဖြစ်ကြပါလျှင်အသင်တို့သည် အလ္လာဟ်အရှင်မြတ်အထံတော်မှ ဤ(တောင်ရာတ်နှင့်ကုရ်အာန်) နှစ်စောင်လုံးထက် ပိုမို၍ တရားလမ်းညွှန်ဖြစ်သော ကျမ်းဂန်တစ်စောင်ကို ဆောင်ကြဉ်းခဲ့ကြလေကုန်။ ငါသည် ယင်းကျမ်းဂန်နှင့်အညီ လိုက်နာပါမည်ဟု ပြောကြားပါလေ။ [၂]

---

(၁) အရဗ်ကာဖိရ်တို့ကား အံ့ဖွယ်ပင်။ တမန်တော် စေလွှတ်တော်မမူပါက အဘယ်ကြောင့် တမန်တော် စေလွှတ်တော်မမူပါသနည်းဟု ဆိုကြသည်။ တမန်တော် ပွင့်လာတော်မူပြန်သည့်အခါ 'ဤတမန်တော်သည် တမန်တော်မူစာကဲ့သို့ တောင်ဝှေး၊ လင်းဝင်းလောက်ပသည့် လက်၊ စသည့်တန်ခိုးများ အဘယ်ကြောင့် ချီးမြှင့်ခြင်း မခံရသနည်း။ ဤတမန်တော်သည် တမန်တော်မူစာကဲ့သို့ ကျမ်းတစ်စောင်လုံး တစ်ကြိမ်တည်း တစ်ပါတည်း အဘယ်ကြောင့် ချီးမြှင့်ခြင်း မခံရသနည်း...' စသည်ဖြင့် ဆင်ခြေကန်ခဲ့ကြပြန်လေသည်။

အရဗ်ကာဖိရ်များက ယင်းသို့ပြောဆိုခြင်းမှာ ရိုးသားစွာ ပြောဆိုခြင်းမဟုတ်။ အမှန်တရားကို မနာယူလို၍ တမင် အပြစ်ရှာခြင်းသာ ဖြစ်သည်။ အမှန်မှာ ၎င်းတို့သည် လူသားထဲမှ တမန်တော်ဖြစ်သည်ကိုပင် မယုံကြည်ခဲ့ကြပေ။ တမန်တော် မူစာအားလည်း အားလုံး ယုံကြည်ခဲ့ကြသည် မဟုတ်ပေ။ တမန်တော် မူစာ၏ ကျမ်းကိုလည်း အားလုံးလက်ခံနာယူ ကျင့်မူခဲ့ကြသည် မဟုတ်ပေ။ ကြည့်-ကုရ်အာန် (၂၈း၃၆)။

အရဗ်ကာဖိရ်များသည် တမန်တော်မြတ်အား မနာခံလိုကြသည့်အခါ ယရိယာယ်သုံးကာ တမန်တော်မူစာအား ရှေ့ထား၍ ဤတမန်တော်သည် တမန်တော်မူစာ၏ တန်ခိုးများပြလျှင် ကျွန်ုပ်တို့သည် ဤတမန်တော်အား ယုံကြည်ကြပါမည်ဟု ဆိုခဲ့ကြလေသည်။

فَإِنْ لَّمْ يَسْتَجِيبُوا لَكَ فَاعْلَمْ أَنَّمَا يَتَّبِعُونَ أَهْوَاءَهُمْ وَمَنْ أَضَلُّ مِمَّنِ اتَّبَعَ هَوَاهُ بِغَيْرِ هُدًى مِّنَ اللَّهِ إِنَّ اللَّهَ لَا يَهْدِي الْقَوْمَ الظَّالِمِينَ ﴿٥٠﴾

၅၀။ သို့ရာတွင် အကယ်၍ ၎င်းတို့သည် အသင်၏ ပြောကြားချက်ကို သဘောမတူခဲ့ကြပါလျှင် ၎င်းတို့သည် မိမိတို့၏စိတ်အလိုဆန္ဒများကို လိုက်စားသူများသာလျှင် ဖြစ်ကြသည်ဟူ၍သာ အသင်သည် မှတ်ယူပါလေ။ စင်စစ်သော်ကား အလ္လာဟ်အရှင်မြတ်အထံတော်မှ တရားလမ်းညွှန်ခြင်း တစ်စုံတစ်ရာမျှ မရှိဘဲလျက် မိမိ၏စိတ်အလိုဆန္ဒကိုသာ လိုက်စားသောသူထက် ပို၍လမ်းလွဲမှားသောသူဟူ၍ကား မည်သူရှိပါအံ့နည်း။ ဧကန်အမှန် အလ္လာဟ်အရှင်မြတ်သည် ကျူးကျော်စော်ကားသော အမျိုးသားတို့အား တရားလမ်းမှန်ကို ညွှန်ပြတော်မူသည် မဟုတ်ပေ။

---

② **ကုရ်အာန်နှင့် တောင်ရာတ်ထက်သာသော ကောင်းကင်ကျမ်း ကျမ်းရှိက တင်ပြကြ။**

ကောင်းကင်ကျ ကျမ်းများတွင် ကုရ်အာန်နှင့်တောင်ရာတ်သည် အကျော်ကြားဆုံးပင် ဖြစ်ခဲ့၏။ (တောင်ရာတ်ကား ယိုယွင်းသွားခဲ့ချေပြီ။ ကုရ်အာန်ကား ယနေ့ထက်တိုင် မူရင်းအတိုင်း တည်ရှိလျက်ပင်၊ ကမ္ဘာတစ်သက် တည်ရှိနေမည်ပင်)။ အရဗ်ကာဖိရ်များက ကုရ်အာန်နှင့် တောင်ရာတ်ကျမ်း ၂-စောင်လုံးသည် ပဋ္ဌလက်ဖြစ်သည်ဟုဆိုခဲ့ကြရာ တမန်တော်မြတ်က သို့ဖြစ်လျှင်အသင်တို့သည် ထိုကျမ်း၂-စောင်ထက် ပို၍ တရားဓမ္မဟောညွှန်ပြသော ကောင်းကင်ကျကျမ်းတစ်စောင်ကို ယူဆောင်လာကြကုန်။ အကယ်တန္တု ထိုသို့သောကျမ်းကို အသင်တို့ ယူဆောင်လာနိုင်ခဲ့ကြလျှင် ကျွန်ုပ်သည် ထိုကျမ်းကိုလက်ခံနာယူကျင့်မူပါမည်ဟု ကြေညာခဲ့လေသည်။

၎င်းကား သဘာဝကျသောမျှတသော၊ လူတိုင်းလက်ခံနိုင်သော၊ လက်ခံရမည်ဖြစ်သော ကြေညာချက်ပင်။ သို့တစေလည်း အရဗ်ကာဖိရ်များသည် တမန်တော်မြတ်၏ ကြေညာချက်ကို အဘယ်မှာလျှင် ရင်ဆိုင်နိုင်ခဲ့ကြအံ့နည်း။ ကုရ်အာန်နှင့် တောင်ရာတ်ထက်သာသော ကောင်းကင်ကျကျမ်းကို အသို့လျှင် ယူဆောင်လာနိုင်ခဲ့ကြအံ့နည်း။ကမ္ဘာတစ်သက် ယူဆောင်လာနိုင်ကြမည် မဟုတ်ပေ။ အရဗ်ကာဖိရ်များ ပြောဆိုသကဲ့သို့ ကုရ်အာန်သည် ပုဂ္ဂိုလ်တစ်ဦးတစ်ယောက်က ပြုလုပ်ဖန်တီးထားသောပဋ္ဌလက်ဖြစ်ပါက ကမ္ဘာအဝှန်းရှိ ပဋ္ဌလက်များကို စုပေါင်း၍ ထိုထက်ကြီးမားသော ပဋ္ဌလက်ကို ပြုလုပ်နိုင်ကြရပေမည်။ ပဋ္ဌလက်ကား မယှဉ်ပြိုင်နိုင်သော အရာမဟုတ်ချေ။

အရဗ်ကာဖိရ်များသည် မိမိတို့ကိုယ်တိုင်လည်း ကုရ်အာန်နှင့် တောင်ရာတ်ထက်သာသော ကောင်းကင်ကျကျမ်းတစ်စောင်ကို ယူဆောင်လာနိုင်ခဲ့ကြသည်မရှိ။ မိမိတို့ထံရောက်လာသော ကောင်းကင်ကျကျမ်းကိုလည်း လက်ခံနာယူ ကျင့်မူခဲ့ကြသည် မရှိ။ ၎င်းသည်ကို ထောက်ရှုခြင်းအားဖြင့် ၎င်းတို့၌ အမှန်တရားကို လက်ခံနာယူကျင့်မူလိုစိတ် စိုးစဉ်းမျှပင် မရှိကြောင်း၊ မှားမှန်၊ဆိုး၊ကောင်း၊ သင့်မသင့် စိုးစဉ်းမျှမထောက်ချင့်ဘဲ မိမိတို့၏ စိတ်အလိုကိုသာ လိုက်ကာ စိတ်ထင်ရာ စိုင်းနေသူများသာဖြစ်ကြောင်း ကောင်းစွာသိနိုင်ပေသည်။ ထိုသို့ စိတ်ထင်ရာစိုင်းသူများထက် လွဲမှားသူကား အဘယ်မှာလျှင် ရှိနိုင်တော့အံ့နည်း။ ၎င်းအကြောင်းနှင့် ဆက်စပ်၍ ကုရ်အာန် (၂:၂။ ၂:၂၃-၂၄)ကို ရှုပါကုန်။

وَلَقَدْ وَصَّلْنَا لَهُمُ الْقَوْلَ لَعَلَّهُمْ يَتَذَكَّرُونَ ﴿٥١﴾

၅၁။ ထိုမှတပါး ဧကန်မလွဲ ငါအရှင်မြတ်သည် ၎င်တို့အဖို့ ၎င်းတို့တရားရကြအံ့သောငှာ (မိမိ) အာယတ်တော်များကို အဆက်မပြတ်(တဖြည်းဖြည်း) ပို့တော်မူခဲ့ပေသတည်း။

الَّذِينَ آتَيْنَاهُمُ الْكِتَابَ مِن قَبْلِهِ هُم بِهِ يُؤْمِنُونَ ﴿٥٢﴾

၅၂။ ဤ(ကုရ်အာန်ကျမ်းမြတ်)၏အလျင် ငါအရှင် ကျမ်းဂန်ချီးမြှင့်ပေးသနားတော်မူခဲ့သောသူတို့မှာကား ဤ(ကုရ်အာန်ကျမ်းမြတ်)ကို ယုံကြည်ကြပေသည်။

وَإِذَا يُتْلَىٰ عَلَيْهِمْ قَالُوا آمَنَّا بِهِ إِنَّهُ الْحَقُّ مِن رَّبِّنَا إِنَّا كُنَّا مِن قَبْلِهِ مُسْلِمِينَ ﴿٥٣﴾

၅၃။ ထို့ပြင် ဤ(ကုရ်အာန်ကျမ်းမြတ်)ကို ၎င်းတို့ ရှေ့ဝယ်ဖတ်ကြားသောအခါ ၎င်းတို့က ကျွန်တော်မျိုးတို့သည် ဤ(ကုရ်အာန်ကျမ်းမြတ်)ကို ယုံကြည်ပါပြီ။ ဧကန်မလွဲ ဤ(ကုရ်အာန်ကျမ်းမြတ်)သည် ကျွန်တော်မျိုးတို့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ် အထံတော်မှ (ထုတ်ပြန်တော်မူသည့်) အမှန်တရားပင် ဖြစ်ပါသည်။ ဧကန်စင်စစ် ကျွန်တော်မျိုးတို့သည် ဤ(ကုရ်အာန်ကျမ်းမြတ် မကျရောက်မီ) အလျင်ကပင် 'မွတ်စ်လင်မ်' အမိန့်တော်ကိုလိုက်နာသူများ ဖြစ်ခဲ့ကြပါသည်ဟု ပြောဆိုခဲ့ကြကုန်၏။

أُولَٰئِكَ يُؤْتَوْنَ أَجْرَهُم مَّرَّتَيْنِ بِمَا صَبَرُوا وَيَدْرَءُونَ بِالْحَسَنَةِ السَّيِّئَةَ وَمِمَّا رَزَقْنَاهُمْ يُنفِقُونَ ﴿٥٤﴾

၅၄။ ထိုသူတို့သည် ကြံ့ခိုင်စွာ ရှိခဲ့ကြခြင်းကြောင့်လည်းကောင်း၊ အဆိုးကို အကောင်းဖြင့် (တုံ့ပြန်) တွန်းလှန်ကြသောကြောင့်လည်းကောင်း၊ ၎င်းတို့အား ငါအရှင်မြတ်ကချီးမြှင့်ပေးသနားတော်မူခဲ့သော ပစ္စည်းဥစ္စာများအနက်မှ သုံးစွဲလှူဒါန်းကြသောကြောင့်လည်းကောင်း၊ မိမိတို့၏အကျိုးကို နှစ်ဆပေးသနားတော်မူခြင်းခံကြရပေမည်။ ၁

(၁) **မှတစိတ်ရှိသော 'ကိတာဗီ' များ၏ ဂုဏ်ရည်များ။**

အရဗ်ကာဖိရ်များသည် အတိတ်ခေတ် ကျမ်းဂန်များကိုလည်း မယုံကြည်ခဲ့ကြပေ။ နောက်ဆုံး ကျရောက်လာခဲ့သော ကျမ်းကိုလည်း မယုံကြည်ခဲ့ကြပေ။ ဤကား၎င်းတို့၏ စိတ်ဓာတ်ခဲယဉ်းမှု၊ မိုက်မဲမှုပင်။ အရဗ်ကာဖိရ်များ ➢➢

وَإِذَا سَمِعُوا اللَّغْوَ أَعْرَضُوا عَنْهُ وَقَالُوا لَنَا أَعْمَالُنَا وَلَكُمْ أَعْمَالُكُمْ سَلَامٌ عَلَيْكُمْ لَا نَبْتَغِي الْجَاهِلِينَ ﴿٥٥﴾

၅၅။ ထို့ပြင် ၎င်းတို့မှာ အချည်းနှီးသောစကားကို ကြားကြလေသောအခါ ထိုအချည်းနှီးသောစကားမှ မျက်နှာလွှဲ ဆုတ်ခွာသွားကြသည့်ပြင် ကျွန်ုပ်တို့၏ အပြုအမူများသည် ကျွန်ုပ်တို့အဖို့ဖြစ်၍ အသင်တို့၏ အပြုအမူများမှာ အသင်တို့အဖို့ ဖြစ်သည်။ ငြိမ်းချမ်းမှုသည် အသင်တို့အပေါ်၌ ရှိပါစေ။ ကျွန်ုပ်တို့သည် အသိပညာ ကင်းမဲ့သူတို့အား အလိုမရှိကြပြီဟု ပြောဆိုခဲ့ကြကုန်သတည်း။

---

➤➤ မယုံကြည်ခဲ့ကြသော်လည်း အတိတ်ခေတ်ကျမ်းဂန် ချီးမြှင့်ခြင်းခံခဲ့ကြရသော 'အဟ်လိကိတာဗ်' ခေါ် 'ကိတာဗီ'များအနက် မှုတစိတ်ရှိသော၊ အမှန်တရားကို လိုလားသော ပုဂ္ဂိုလ်များသည် အလျင်ကတည်းကပင် တောင်ရာတ်၊ အင်န်ဂျီလ် ကျမ်းများကို ယုံကြည်ခဲ့ကြပေသည်။

ကုရ်အာန်ကျမ်းမြတ် ကျရောက်လာပြန်သည့်အခါ 'ဤကျမ်းသည်လည်း ကျွန်ုပ်တို့၏ အရှင်သခင်ထံတော်မှ ဖြစ်သည်။ မှန်ကန်သောကျမ်း ဖြစ်သည်။ ကျွန်ုပ်တို့သည် ဤကျမ်းမြတ်ကိုလည်း ယုံကြည်ကြပါသည်။ ကျွန်ုပ်တို့သည် ယခင်ကတည်းကပင် အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်များကို နာခံသော 'မွတ်စ်လင်မ်'များ ဖြစ်ခဲ့ကြပါသည်။ ယခုလည်း နာခံကြပါသည်။ ကျွန်ုပ်တို့သည် ယခုမှ မွတ်စ်လင်မ် ဖြစ်ကြသည်မဟုတ်။ ရှေးယခင်ကတည်းကပင် မွတ်စ်လင်မ် ဖြစ်ခဲ့ကြပါသည်'ဟု အတိအလင်းဖွင့်ဟ ပြောဆိုခဲ့ကြလေသည်။

အဘယ့်ကြောင့်ဆိုသော် ကိတာဗီများသည် အတိတ်ခေတ် ကျမ်းများကို ယုံကြည်ခဲ့ကြသည်။ ယင်းကျမ်းများတွင် နောက်ဆုံးပွင့်တော်မူမည့် တမန်တော်မြတ်အကြောင်း၊ ကုရ်အာန်ကျမ်းမြတ်အကြောင်း ကြိုတင်ဟောကြားချက်များ ပါရှိခဲ့သည်။ ကိတာဗီများသည် ယခင်က ယင်းဟောကြားချက်များကို ကြားရုံသာ ကြားခဲ့ကြရသည်။ ဖတ်ရုံသာ ဖတ်ခဲ့ကြရသည်။ ယခုမူ ယင်းဟောကြားချက်များကို မိမိတို့ကိုယ်တိုင် မျက်ဝါးထင်ထင် တွေ့မြင်နေကြရပြီ။

ကိတာဗီများသည် မိမိတို့၏ တမန်တော်များအား ယုံကြည်ခဲ့ကြရာတွင် တမန်တော်မြတ်အားလည်း ယုံကြည်ခဲ့ကြပေသည်။ တမန်တော်မြတ်အား ယုံကြည်ရာတွင် မိမိတို့၏ တမန်တော်များအားလည်း ယုံကြည်ခဲ့ကြပေသည်။ အဘယ့်ကြောင့်ဆိုသော် အတိတ်ခေတ် ပွင့်လေသမျှသော တမန်တော်တိုင်းသည် တမန်တော်မြတ် ပွင့်တော်မူမည့်အကြောင်း အသီးသီး ကောင်းချီးသတင်း ပေးသွားတော်မူခဲ့ကြပေသည်။ တမန်တော်မြတ် ပွင့်လာတော်မူသည့်အခါ တမန်တော်မြတ်ကလည်း အတိတ်ခေတ် ပွင့်လေသမျှသော တမန်တော်အပေါင်းတို့အား ခွဲခြားခြင်းမရှိ၊ ယုံကြည်ရမည့်အကြောင်း ဟောကြားတော်မူခဲ့သည်။ ဤသို့ဖြင့် ကိတာဗီများသည် ၂-ကြိမ်စီ အီမာန်ယုံကြည်ခဲ့ကြသည်ဖြစ်ရာ ကုသိုလ်အကျိုးလည်း ၂-ဆစီ ချီးမြှင့်တော်မူခြင်း ခံကြရပေမည်။

إِنَّكَ لَا تَهْدِي مَنْ أَحْبَبْتَ وَلَٰكِنَّ اللَّهَ يَهْدِي مَنْ يَشَاءُ ۚ وَهُوَ أَعْلَمُ بِالْمُهْتَدِينَ ﴿٥٦﴾

၅၆။ ဧကန်အမှန် အသင်သည် မိမိနှစ်လိုသူအား တရားလမ်းမှန်သို့ ပို့ဆောင်ပေးနိုင်သည် မဟုတ်ပေ။ စင်စစ်မှာကား *အလ္လာဟ် အရှင်မြတ်သာလျှင် မိမိ အလိုရှိတော်မူသောသူအားတရားလမ်းမှန်သို့ ပို့ဆောင် ပေးတော်မူ၏။* [၁] ၎င်းပြင်ထိုအရှင်မြတ်သည်သာလျှင် တရားလမ်းမှန် ရရှိကြမည့်သူတို့အား ကောင်းစွာ သိရှိတော်မူသော အရှင်မြတ် ဖြစ်တော်မူ၏။

وَقَالُوا إِنْ نَتَّبِعِ الْهُدَىٰ مَعَكَ نُتَخَطَّفْ مِنْ أَرْضِنَا ۚ أَوَلَمْ نُمَكِّنْ لَهُمْ حَرَمًا آمِنًا يُجْبَىٰ إِلَيْهِ ثَمَرَاتُ كُلِّ شَيْءٍ رِزْقًا مِنْ لَدُنَّا وَلَٰكِنَّ أَكْثَرَهُمْ لَا يَعْلَمُونَ ﴿٥٧﴾

၅၇။ ထိုမှတပါး ၎င်းတို့က ‘အကယ်၍ ကျွန်ုပ်တို့ သည်အသင်နှင့်အတူ တရားလမ်းမှန်ကို လိုက်ကြလျှင် ကျွန်ုပ်တို့မှာ မိမိတို့၏ တိုင်းပြည်မှ နှင်ထုတ်ခြင်းကို ခံကြရပေမည်’ဟု ပြောဆိုခဲ့ကြကုန်၏။ ငါအရှင်မြတ် သည် ၎င်းတို့အား ဘေးရန်ခပ်သိမ်းကင်းငြိမ်းသော အကြင် ‘ဟရမ်’အတွင်း၌ အတည်တကျ နေရာချပေး တော်မူခဲ့သည်မဟုတ်ပါလော။ ထိုဟရမ်သို့ အမျိုးမျိုး သောအသီးအနှံများသည် ငါအရှင်မြတ်၏အထံတော် မှ စားနပ်ရိက္ခာအဖြစ် သယ်ယူရောက်ရှိလာပေသည်။ သို့ရာတွင် ၎င်းတို့အနက် အများဆုံးသော သူတို့မှာ မသိ နားမလည်ကြပေတကား။ [၂]

---

(၁) **တမန်တော်မြတ်၏ တာဝန်မှာ တရားလမ်းမှန် ညွှန်ပြခြင်းသာ။**

ဆိုလိုသည်ကား တမန်တော်မြတ်သည် အချို့ပုဂ္ဂိုလ်များအား သဘာဝအလျောက် ချစ်တော်မူ၏။ ထိုသို့သော ပုဂ္ဂိုလ်များအား အစ္စလာမ်အတွင်းသို့ ရောက်လာစေတော်မူလို၏။ ဤသို့ကား ဖြစ်ရကောင်းစေမဟုတ်။ အဘယ်ကြောင့်ဆိုသော် တမန်တော်မြတ်၏ အဓိကတာဝန်မှာ တရားလမ်းမှန်သို့ အရောက်ပို့ဆောင်ခြင်းမဟုတ်။ တရားလမ်းမှန်သို့ ညွှန်ပြခြင်းသာဖြစ်သည်။ အလ္လာဟ်အရှင်မြတ် သည်သာလျှင် မိမိအလိုရှိတော်မူသောသူများအား တရားလမ်းမှန်သို့ အရောက် ပို့ဆောင်ပေးတော်မူနိုင်ပေသည်။ ကြည့်-ကုရ်အာန် (၂း၂၇၂။ ၁၂း၁၀၃)။

အချို့အဆိုအရ တမန်တော်မြတ်သည် မိမိ၏ဘကြီးတော် အဗူတွာလိဗ်အား အစ္စလာမ်အတွင်းသို့ တစ်နည်းတစ်ဖုံ ရောက်ရှိလာစေရန် အထူးတလည် ကြိုးစားတော်မူခဲ့၏။ သို့တစေလည်း ဘကြီးတော်သည် (အမြင်အားဖြင့်) အစ္စလာမ်အတွင်းသို့ ရောက်ရှိမလာခဲ့ပေ။ ထိုအခါ ဤအာယတ်တော်များ ကျရောက်လာခဲ့ပေသည် ဟူ၏။

وَكَمْ أَهْلَكْنَا مِن قَرْيَةٍ بَطِرَتْ مَعِيشَتَهَا ۖ فَتِلْكَ مَسَاكِنُهُمْ لَمْ تُسْكَن مِّن بَعْدِهِمْ إِلَّا قَلِيلًا ۖ وَكُنَّا نَحْنُ الْوَارِثِينَ ۝٥٨

၅၈။ စင်စစ်သော်ကား ငါအရှင်မြတ်သည် မိမိတို့၏ စည်းစိမ်ဥစ္စာကြွယ်ဝမှုကြောင့် မော်ကြွားရွှင်မြူးခဲ့ကြသော များစွာသော မြို့ရွာတို့ကို ဖျက်ဆီးတော်မူခဲ့၏။ [1] သို့ဖြစ်ပေရာ ဤသည်တို့ကား ၎င်းတို့၏ နေအိမ်များပင်။ ထိုနေအိမ်များမှာ ၎င်းတို့မရှိကြသည့်နောက်တွင် အနည်းငယ်မျှသော အချိန်ကာလမှအပ စည်ပင်သာယာခဲ့သည် မရှိချေ။ စင်စစ် ငါအရှင်မြတ်သည်ပင်လျှင် (၎င်းတို့၏အမွေပစ္စည်းတို့ကို) ပိုင်ဆိုင်တော်မူသောအရှင် ဖြစ်တော်မူခဲ့ပေသည်။

(၂) အရဗ်ကာဖိရ် မုရှ်ရစ်က်များက တမန်တော်မြတ်အား 'အသင် အမုန်တရားအပေါ်၌ တည်ရှိသည်ကို ကျွန်ုပ်တို့သိကြပါသည်။ သို့ရာတွင် အကယ်၍ ကျွန်ုပ်တို့သည် အစ္စလာမ်ကို လက်ခံနာယူ၍ အသင်နှင့် ပူးပေါင်းလိုက်ကြပါလျှင် ကျန် အရဗ်တစ်မျိုးသားလုံးသည် ကျွန်ုပ်တို့၏ ရန်သူများ ဖြစ်သွားကြလိမ့်မည်။ ကျွန်ုပ်တို့အား တိုင်းပြည်မှ နှင်ထုတ်ကြလိမ့်မည်' ဟု ပြောဆိုခဲ့ကြ၏။

ဤအာယတ်တော်တွင် ဤသည်ကိုပင် ဖြေကြားတော်မူသည်မှာ ၎င်းတို့အား ယခု မည်သူကာကွယ်ထိန်းသိမ်းထားသနည်း။ အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့အား ကျောင်းတော်ပါး၌ နေရာချထားပေးတော်မူသည် မဟုတ်ပါလော။ ကျောင်းတော်၏ ကျေးဇူးကြောင့် ၎င်းတို့သည် ဘေးရန်ခပ်သိမ်းမှ ကင်းငြိမ်းလျက် ရှိကြသည် မဟုတ်ပါလော။ သဲကန္တာရ လွင်တီးခေါင်၌ နေထိုင်ကြပါလျက် အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်ဖြင့် ကမ္ဘာအရပ်ရပ်မှ ရောက်ရှိလာသော သီးနှံမျိုးစုံကို စားသုံးနေကြရသည် မဟုတ်ပါလော။ အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့အား ကာဖိရ်၊ မုရှ်ရစ်က်အဖြစ်၌ ရှိနေကြစဉ်ပင် ကာကွယ် ထိန်းသိမ်းတော်မူခဲ့ပေရာ မွတ်စ်လင်မ် ဖြစ်လာကြသည့်အခါ ပို၍ပင် ထိန်းသိမ်း စောင့်ရှောက်တော်မူမည် မဟုတ်ပါလော။ အမှန်မှာ ၎င်းတို့သည် ဤသည့်အချက်ကိုပင် မစဉ်းစား မဆင်ခြင်ကြပေ။

(၁) **<u>မနဂုဏ်မောက်က မှောက်တတ်သည်။</u>**

မက္ကာမြို့သား ကာဖိရ်များသည် အရဗ်တို့ရန်ကို စိုးရိမ်နေကြ၏။ အမှန်မှာ ၎င်းတို့သည် အလ္လာဟ်အရှင်မြတ်၏ပြစ်ဒဏ်ကိုသာ စိုးရိမ်ကြရပေမည်။ ဤပစ္စက္ခတွင် ခေတ္တခဏရရှိထားသော ဥစ္စာခနကား အထင်ကြီးဖွယ်ရာမဟုတ်၊ မောက်မာပလွှား ဝါကြွားဖွယ်ရာမဟုတ်၊ ဥစ္စာနေသည် သခ်ါရမျှသာ ဖြစ်သည်။ တစ်ရက်ပျက်စီးသွားမည်သာ။ အတိတ်ခေတ်များတွင် အချို့အမျိုးသားများသည် ဥစ္စာနေကိုသာ အမိအဘ အဓိကဟု ထင်မှတ်ကာ မောက်မာပလွှား ဝါကြွားခဲ့ကြ၏။ ဥစ္စာဂုဏ်၊ မနဂုဏ်မောက်ကာ သောင်းကျန်းခဲ့ကြ၏။ သက်ဆိုင်ရာ တမန်တော်များအား သွေးဖည်ဆန့်ကျင်ခဲ့ကြ၏။ နောက်ဆုံးတွင် ၎င်းတို့သည် အလ္လာဟ်အရှင်မြတ်၏ ပြစ်ဒဏ်သင့်ကာ ကမ္ဘာမြေပြင်မှ အပျောက်ကြီး ပျောက်ကွယ်သွားခဲ့ကြရလေသည်။ ၎င်းတို့ နေထိုင် သောင်းကျန်းခဲ့ကြသော မြို့ရွာဒေသများတွင် ဆွေးမြည့်နေသော တိုက်တာဂေဟာ အပျက်များသာ ကျန်ရှိပေတော့သည်။ အမွေဆက် အမွေခံဟူ၍ တစ်ဦးတစ်ယောက်မျှပင် မရှိပြီ။ ဤသို့သော မြို့ရွာများကား မနည်းလှပြီ။ မနဂုဏ်မောက်၍ မှောက်သွားခဲ့ကြသော လူမျိုးတို့၏ဘဝကို ညွှန်ပြလျက် ရှိပေသည်။ တရားရဖွယ် ကောင်းလှပေသည်။

وَمَا كَانَ رَبُّكَ مُهْلِكَ الْقُرٰى حَتّٰى يَبْعَثَ فِىٓ اُمِّهَا رَسُوْلًا يَّتْلُوْا عَلَيْهِمْ اٰيٰتِنَا ۚ وَمَا كُنَّا مُهْلِكِى الْقُرٰٓى اِلَّا وَاَهْلُهَا ظٰلِمُوْنَ ﴿٥٩﴾

၅၉။ စင်စစ်သော်ကား အသင့်အား ဖန်ဆင်းမွေးမြူ တော်မူသောအရှင်မြတ်သည် မြို့ရွာများကို ထိုမြို့ရွာ များ၏ရာဇဌာနေတွင် ငါအရှင်မြတ်၏အာယတ်တော် များကို ၎င်းတို့ရှေ့၌ဖတ်ကြားအံ့သော ရစူလ်တမန် တော်တစ်ပါးပါးကို ပွင့်စေတော်မူခြင်း မရှိသမျှ ကာလပတ်လုံး ဖျက်ဆီးတော်မူသည့် အရှင်မဟုတ်ပေ။ ထိုမှတပါး ငါအရှင်မြတ်သည် မြို့ရွာများကို ထိုမြို့ရွာ များ၌ နေထိုင်ကြသောသူတို့သည် (လွန်စွာ) မတရား သောသူများ မဖြစ်ကြသမျှ ကာလပတ်လုံး ဖျက်ဆီး တော်မူသောအရှင် မဟုတ်ပေ။ [၁]

وَمَآ اُوْتِيْتُمْ مِّنْ شَىْءٍ فَمَتَاعُ الْحَيٰوةِ الدُّنْيَا وَزِيْنَتُهَا ۚ وَمَا عِنْدَ اللّٰهِ خَيْرٌ وَّاَبْقٰى ۗ اَفَلَا تَعْقِلُوْنَ ﴿٦٠﴾

၆၀။ စင်စစ် အသင်တို့ပေးသနားတော်မူခြင်း ခံကြ ရသောအရာများမှာ ဤပစ္စုပ္ပန် လောကီဘဝ၏ အသုံး အဆောင်နှင့် ဤပစ္စုပ္ပန်လောကီဘဝ၏ တင့်တယ်မှု မျှသာဖြစ်ကြပေသည်။ သို့ရာတွင်အလ္လာဟ်အရှင်မြတ် အထံတော်၌ ရှိသောအရာများမှာမူကား အကောင်းဆုံး ဖြစ်ကြသည့်ပြင် အခိုင်အမြဲဆုံးလည်းဖြစ်ကြကုန်၏။ သို့ပါလျက် အသင်တို့သည် (ဤမျှပင်) မသိ နားမလည်ကြလေသလော။ [၂]

---

(၁) **အကြောင်းမဲ့ ပြစ်ဒဏ်ခတ်တော်မမူ။**

အလ္လာဟ်အရှင်မြတ်သည် လူမျိုးတစ်မျိုးအား အကြောင်းမဲ့ ပြစ်ဒဏ်ခတ်တော်မမူ။ ကုဖ်ရ်၊ ရှစ်ရ်က် ပြုရုံမျှဖြင့်လည်း ပြစ်ဒဏ်ခတ်တော်မမူ။ အလ္လာဟ်အရှင်မြတ်သည် ဦးစွာပထမ အချက်အချာ မြို့ရွာများတွင် သက်ဆိုင်ရာ တမန်တော်များအား စေလွှတ်တော်မူ၍ တရားဓမ္မ ဟောညွှန်ပြစေတော်မူသည်။ သို့တရားဓမ္မ ဟောညွှန်ပြ၍ မနာခံကြလျှင်ချက်ချင်း ပြစ်ဒဏ်ခတ်တော် မမူသေးပေ။ အချိန် အတော်ကြာသည်အထိ အကြိမ်ကြိမ်အခါခါ သတိပေးပါလျက် တရားဓမ္မကို ဖြောင့်ဖြောင့်ကြီး ဆန့်ကျင်ကာ လွန်စွာဆိုးသွမ်း မိုက်မဲလာကြပြီး မည်သို့မျှ သွန်သင်ဆုံးမ၍ မရသည့်အခါကျမှသာလျှင် ဆက်လက်၍ လျစ်လျူပြုခြင်းဖြင့် မည်သို့မျှအကျိုးမရှိသော အဆုံးကျမှသာလျှင် အလ္လာဟ်အရှင်မြတ်သည် ထိုက်သည့်အားလျော်စွာ ပြစ်ဒဏ်ခတ်တော်မူလေသည်။ ဤကား မည်သူမပြု မိမိမှုပင်။

أَفَمَن وَّعَدۡنَٰهُ وَعۡدًا حَسَنًا فَهُوَ لَٰقِيهِ كَمَن مَّتَّعۡنَٰهُ مَتَٰعَ ٱلۡحَيَوٰةِ ٱلدُّنۡيَا ثُمَّ هُوَ يَوۡمَ ٱلۡقِيَٰمَةِ مِنَ ٱلۡمُحۡضَرِينَ ﴿٦١﴾

၆၁။ သို့ဖြစ်ပေရာအကြင်သူအား ငါအရှင်မြတ်သည်ကောင်းမြတ်သောကတိပေးတော်မူခဲ့၏။ တစ်ဖန် ထိုသူသည် ယင်းကတိပေးချက်အတိုင်း တွေ့ကြုံ(ခံစား)ရမည့်သူလည်းဖြစ်၏ ထိုသူသည် အကြင်သူကဲ့သို့ဖြစ်နိုင်မည်လော။ ငါအရှင်မြတ်သည် ထိုသူအား ဤမျက်မှောက် လောကီဘဝ၏ အကျိုးခံစားခွင့်ကို ပေးတော်မူခဲ့၏။ ထို့နောက် 'ကိယာမတ်' ရှင်ပြန်ထမည့်နေ့တွင် ထိုသူမှာ ဖမ်းဆီး၍ ရှေ့တော်မှောက်သွင်းခြင်းကို ခံကြရသောသူတို့အနက်မှ ဖြစ်ချေမည်။

وَيَوۡمَ يُنَادِيهِمۡ فَيَقُولُ أَيۡنَ شُرَكَآءِيَ ٱلَّذِينَ كُنتُمۡ تَزۡعُمُونَ ﴿٦٢﴾

၆၂။ အကြင်နေ့တွင်ထိုအရှင်မြတ်သည် ၎င်းတို့အား 'အသင်တို့ ထင်မှတ်(ကိုးကွယ်)လျက် ရှိခဲ့ကြကုန်သော ငါအရှင်မြတ်၏ တွဲဖက်များသည် အဘယ်မှာနည်း' ဟု ဟစ်ခေါ်မိန့်ကြားတော်မူပေမည်။

قَالَ ٱلَّذِينَ حَقَّ عَلَيۡهِمُ ٱلۡقَوۡلُ رَبَّنَا هَٰٓؤُلَآءِ ٱلَّذِينَ أَغۡوَيۡنَآ أَغۡوَيۡنَٰهُمۡ كَمَا

၆၃။ (ထိုအခါ) အကြင်သူတို့က ထိုသူတို့အပေါ်၌ ငါအရှင်မြတ်၏အမိန့်တော်သည် သက်ရောက်ခဲ့လေပြီဟုလျှောက်ထားကြလေမည်။ အို-ကျွန်တော်မျိုးတို့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်၊ ဤသူတို့ကိုပင် ကျွန်တော်မျိုးတို့သည် လမ်းလွဲစေခဲ့ကြပါသည်။

② **ပျက်စီးမှုနှင့် မြဲမှု။**

စဉ်းစား ဆင်ခြင်အပ်သည်မှာ ကျွန်ုပ်တို့သည် ဤပစ္စက္ခတွင် အချိန်အဘယ်မျှအထိ အသက်နှင့်နေကြရမည်နည်း။ လောကီစည်းစိမ်များကို အချိန်အဘယ်မျှအထိ ခံစားနိုင်ကြမည်နည်း။ သက်တမ်းကားတိုတောင်းလှသည်။ လောကီစည်းစိမ်ကား အရိပ်ပမာ ပျက်စီးမှုမျှသာဖြစ်သည်။ အကယ်တန္တု ဤပစ္စက္ခတွင် ပြစ်ဒဏ်တစ်စုံတစ်ရာ မသက်ရောက်သည်ပင်ထား၊ သို့တစေလည်း သေခြင်းတရားကိုမူ မည်သူမှ မလွန်ဆန်နိုင်ပေ။ သေခြင်းတရားရောက်ရှိလာသောအခါ ကျွန်ုပ်တို့သည် ဤသည့် လောကီစည်းစိမ်အားလုံးကို စွန့်ထားခဲ့ကြရမည်သာဖြစ်သည်။ ထို့နောက် ကိယာမတ်နေ့တွင် ကျွန်ုပ်တို့သည် အလ္လာဟ်အရှင်မြတ်၏ရှေ့တော်မှောက်သို့ ရောက်ရှိကြရပေမည်။ ဤပစ္စက္ခတွင်ရှိခဲ့ကြစဉ် မိမိတို့ကျင့်မူ ဆည်းပူးခဲ့ကြသည်များနှင့် စပ်လျဉ်း၍ အသေးစိတ် စာရင်းအင်းရှင်းကြရပေမည်။ အသေးစိတ်ရှင်းက ထာဝရသုခကို ခံစားကြရပေမည်။ အသေးစိတ်မရှင်းက ငရဲသို့ လားကြရပေမည်။ သို့ဖြစ်ရာ အသိဉာဏ် အမြော်အမြင် ရှိသူတိုင်းသည် နောင်တမလွန်ဘဝ၏ ထာဝရသုခ ရရှိရေးကိုသာ အဓိကထားကာ ကြိုးပမ်းကြပေမည်။ ဤပစ္စက္ခ၏ မမြဲသောစည်းစိမ်တွင် နစ်မွန်း၍ နေကြမည်မဟုတ်ပေ။

غَوَيْنَا تَبَرَّأْنَآ إِلَيْكَ مَا كَانُوٓا۟
إِيَّانَا يَعْبُدُونَ ۝٦٣

(အမုန်မှာ) ကျွန်တော်မျိုးတို့သည် မိမိတို့ကိုယ်တိုင် လမ်းမှားခဲ့ကြသည့်နည်းတူငှင်းတို့အားလည်း လမ်းလွဲစေခဲ့ကြခြင်းသာဖြစ်ပါသည်။ (ယခုသော်ကား) အရှင်မြတ်၏ရှေ့တော်မှောက်၌ (ငှင်းတို့နှင့် ကျွန်တော်မျိုးတို့မှာ မည်သို့မျှ)မပက်သက်ကြောင်း လျှောက်ထားပါသည်။ (စင်စစ်) ငှင်းတို့မှာ ကျွန်တော်မျိုးတို့အား ဆည်းကပ်ကိုးကွယ်ခဲ့ကြသည် မဟုတ်ပါ။

وَقِيلَ ادْعُوا۟ شُرَكَآءَكُمْ
فَدَعَوْهُمْ فَلَمْ يَسْتَجِيبُوا۟
لَهُمْ وَرَأَوُا۟ الْعَذَابَ ۚ
لَوْ أَنَّهُمْ كَانُوا۟ يَهْتَدُونَ ۝٦٤

၆၄။ ထိုမှတပါး(ငှင်းတို့မှာ) 'အသင်တို့သည် မိမိတို့(ဆည်းကပ်ကိုးကွယ်ခဲ့ကြကုန်သော) တွဲဖက်များအား ခေါ်ယူကြလေကုန်'ဟု အမိန့်ပေးတော်မူခြင်းကို ခံကြရပေမည်။ ထိုအခါ ငှင်းတို့သည် ထိုတွဲဖက်များအား ဟစ်ခေါ်ကြငြားလည်း ထိုတွဲဖက်များက ငှင်းတို့အား ပြန်၍ထူးကြမည်မဟုတ်ပေ။ ထိုမှတပါး ငှင်းတို့သည် ပြစ်ဒဏ်ကို (မျက်ဝါးထင်ထင်) တွေ့မြင်ကြပေမည်။ အကယ်၍သာ ငှင်းတို့သည် (လောကီဘဝ၌ အသက်ထင်ရှားရှိခဲ့ကြစဉ်အခါ၌) တရားလမ်းမှန်ကိုရရှိသူများ ဖြစ်ခဲ့ကြပါလေသော် (ထိုပြစ်ဒဏ်ကို တွေ့မြင်ကြရမည် မဟုတ်ပေတကား)။

وَيَوْمَ يُنَادِيهِمْ فَيَقُولُ
مَاذَآ أَجَبْتُمُ الْمُرْسَلِينَ ۝٦٥

၆၅။ ထိုနည်းတူစွာ အကြင်နေ့တွင် ထိုအရှင်မြတ်သည် ငှင်တို့ကို ဟစ်ခေါ်၍ 'အသင်တို့သည် ရစူလ်တမန်တော်တို့အား မည်သို့ ဖြေကြားခဲ့ကြသနည်း' ဟု မေးမြန်းတော်မူပေမည်။

فَعَمِيَتْ عَلَيْهِمُ الْأَنۢبَآءُ
يَوْمَئِذٍ فَهُمْ
لَا يَتَسَآءَلُونَ ۝٦٦

၆၆။ ထိုအခါ ငှင်းတို့အပေါ်၌ ထိုနေ့တွင် အလုံးစုံသော သတင်းစကားများသည် ဖုံးအုပ်ပျောက်ကွယ်သွားပေမည်။ ငှင်းတို့သည် အချင်းချင်း တစ်ဦးကို တစ်ဦး စုံစမ်း မေးမြန်းခြင်းကိုပင် ပြုနိုင်ကြမည် မဟုတ်ပေ။

فَأَمَّا مَنْ تَابَ وَآمَنَ وَعَمِلَ صَالِحًا فَعَسَىٰ أَنْ يَكُونَ مِنَ الْمُفْلِحِينَ ٦٧

၆၇။ သို့ရာတွင် မည်သို့ပင်ဖြစ်စေ၊ အကြင်သူသည် ဝန်ချတောင်းပန်ပြီးနောက် 'အီမာန်' သက်ဝင်ယုံကြည်ခဲ့သည်ရှိသော်၊ ကောင်းမြတ်သော အကျင့်သီလများကို ကျင့်မူ ဆောက်တည်ခဲ့သည်ရှိသော် ထိုသူသည် အောင်မြင်မှုကို ရရှိကြကုန်သောသူတို့တွင် အပါအဝင်ဖြစ်နိုင်ရန် မျှော်လင့်ရာချေသတည်း။

وَرَبُّكَ يَخْلُقُ مَا يَشَاءُ وَيَخْتَارُ ۗ مَا كَانَ لَهُمُ الْخِيَرَةُ ۚ سُبْحَانَ اللَّهِ وَتَعَالَىٰ عَمَّا يُشْرِكُونَ ٦٨

၆၈။ စင်စစ်သော်ကား အသင့်အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်သည် မိမိအလိုရှိတော်မူသော အရာကို ဖန်ဆင်းတော်မူ၏။ ထိုနည်းတူစွာ ထိုအရှင်မြတ်သည် (မိမိအလိုရှိတော်မူသည်ကို) ရွေးချယ်တော်မူ၏။ ၎င်း(မုရှ်ရစ်က်)တို့၌ ရွေးချယ်ခွင့်ကား အလျှင်းမရှိချေ။ အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့ တွဲဖက်နှိုင်းယှဉ်ကိုးကွယ်ကြသည်တို့မှ (လုံး၀) စင်ကြယ် သန့်ရှင်းတော်မူသည့်ပြင်၊ (ထိုအရာတို့ထက် အတိုင်း မရှိ) မြင့်မြတ်လှတော်မူ၏။ [1]

وَرَبُّكَ يَعْلَمُ مَا تُكِنُّ صُدُورُهُمْ وَمَا يُعْلِنُونَ ٦٩

၆၉။ ထိုမှတပါး အသင့်အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်သည် ထိုသူတို့၏ စိတ်နှလုံးများ၌ ကိန်းအောင်းလျက်ရှိသည်တို့ကိုလည်းကောင်း၊ ထိုသူတို့ ထင်ရှားစေကြသည်တို့ကိုလည်းကောင်း၊ (အလုံးစုံ) သိရှိတော်မူ၏။

---

(၁) <u>ခပ်သိမ်းကုန်သော အာဏာသည် အလ္လာဟ်အရှင်မြတ်၌သာ တည်သည်။</u>

အလ္လာဟ်အရှင်မြတ်သည် မိမိအလိုတော်ရှိရာကို ဖန်ဆင်းတော်မူသည်။ မိမိ အလိုတော်ရှိသော အမိန့်တော်များကို ရွေးချယ်သတ်မှတ် ပြဋ္ဌာန်းတော်မူသည်။ မိမိ အလိုတော်ရှိသော ပုဂ္ဂိုလ်အား မိမိအလိုတော်ရှိသော ဂုဏ်အင်ဒြပ်ဖြင့် ချီးမြှင့်တော်မူသည်။ အရေးကိစ္စ အဝဝတွင် မိမိအလိုတော်အတိုင်း ခြယ်လှယ်စီမံ ခန့်ခွဲတော်မူသည်။ ဤသည့်တန်ခိုးအာဏာများသည် အလ္လာဟ်အရှင်မြတ်၌သာ တည်ရှိသည်။ ထိုအရှင်မြတ်မှတစ်ပါး အခြားမည်သူတစ်ဦးတစ်ယောက်၌မျှ ဤသည့် တန်ခိုးအာဏာများသည် အလျှင်းမရှိချေ။ အလ္လာဟ်အရှင်မြတ်သည် တန်ခိုးတော်အစုံ၊ ဂုဏ်တော်အပေါင်းနှင့် ပြည့်စုံတော်မူပါဘိတကား။

وَهُوَ اللّٰهُ لَآ اِلٰهَ اِلَّا هُوَ ۭ لَهُ الْحَمْدُ فِي الْاُوْلٰى وَالْاٰخِرَةِ ۡ وَلَهُ الْحُكْمُ وَاِلَيْهِ تُرْجَعُوْنَ ۝

၇၀။ စင်စစ်သော်ကား ထိုအရှင်မြတ်သည်ပင် (တစ်ဆူတည်း)သောဆည်းကပ်ကိုးကွယ်ရာ အလ္လာဟ် အရှင်မြတ်ဖြစ်တော်မူ၏။ ထိုအရှင်မြတ်မှတစ်ပါး ဆည်းကပ် ကိုးကွယ်ရာဟူ၍ကား အလျှင်းမရှိပြီ။ ဤမျက်မှောက်လောကီဘဝ၌လည်းကောင်း၊ တမလွန် ဘဝ၌လည်းကောင်း၊ ထိုအရှင်မြတ်သည်သာလျှင် ချီးမွမ်းထောပနာအပေါင်းတို့ကို ခံယူထိုက်တော်မူ၏။ ၎င်းပြင် စိုးမိုးအုပ်ချုပ်မှုအာဏာသည်လည်း ထို အရှင်မြတ်၌သာ ရှိ၏။ ထိုမှတပါး အသင်တို့သည် ထိုအရှင်မြတ် အထံတော်သို့သာလျှင် ပြန်လည် သွားကြရကုန်အံ့သတည်း။

قُلْ اَرَءَيْتُمْ اِنْ جَعَلَ اللّٰهُ عَلَيْكُمُ الَّيْلَ سَرْمَدًا اِلٰى يَوْمِ الْقِيٰمَةِ مَنْ اِلٰهٌ غَيْرُ اللّٰهِ يَاْتِيْكُمْ بِضِيَآءٍ ۭ اَفَلَا تَسْمَعُوْنَ ۝

၇၁။ (အို-နဗီတမန်တော်) အသင်သည် (၎င်းတို့ အား ဤသို့)ပြောကြားပါလေ။ (အချင်းတို့၊) အသင် တို့သည် (ငါ့အား)ပြောပြကြလေကုန်။ အကယ်၍သာ အလ္လာဟ်အရှင်မြတ်သည် 'ကိယာမတ်' ရှင်ပြန်ထမည့် နေ့တိုင်အောင် ညဉ့်ကိုအသင်တို့အပေါ်၌အမြဲထာဝစဉ် တည်စေတော်မူခဲ့ပါလျှင် အလ္လာဟ်အရှင်မြတ်အပြင် အသင်တို့ထံသို့ အလင်းရောင်ကို ဆောင်ကြဉ်းအံ့သော အခြားကိုးကွယ်ရာဟူ၍ မည်သူရှိပါသနည်း။ သို့ပါ လျက် အသင်တို့သည် မကြားကြလေသလော။

قُلْ اَرَءَيْتُمْ اِنْ جَعَلَ اللّٰهُ عَلَيْكُمُ النَّهَارَ سَرْمَدًا اِلٰى يَوْمِ الْقِيٰمَةِ مَنْ اِلٰهٌ غَيْرُ اللّٰهِ يَاْتِيْكُمْ بِلَيْلٍ تَسْكُنُوْنَ فِيْهِ ۭ

၇၂။ (အို-နဗီတမန်တော်၊) အသင်သည် (၎င်းတို့ အား) ပြောကြားပါလေ။ (အချင်းတို့၊) အကယ်၍သာ အလ္လာဟ်အရှင်မြတ်သည် 'ကိယာမတ်' ရှင်ပြန်ထမည့် နေ့တိုင်အောင် နေ့ကိုအသင်တို့အပေါ်၌ အမြဲထာဝစဉ် တည်စေတော်မူခဲ့ပါလျှင် အလ္လာဟ်အရှင်မြတ် အပြင် အသင်တို့ အနားယူကြအံ့သောငှာ ညဉ့်ကို အသင်တို့ ထံသို့ ဆောင်ကြဉ်းအံ့သော အခြားကိုးကွယ်ရာဟူ၍

أَفَلَا تُبْصِرُونَ ﴿٧٢﴾

မည်သူရှိပါသနည်း။ သို့ပါလျက် အသင်တို့သည် မမြင်ကြလေသလော။

وَمِن رَّحْمَتِهِ جَعَلَ لَكُمُ الَّيْلَ وَالنَّهَارَ لِتَسْكُنُوا فِيهِ وَلِتَبْتَغُوا مِن فَضْلِهِ وَلَعَلَّكُمْ تَشْكُرُونَ ﴿٧٣﴾

၇၃။ စင်စစ် ထိုအရှင်မြတ်သည် မိမိ ကရုဏာတော်ဖြင့်အသင်တို့အဖို့ ညဉ့်နှင့်နေ့ကို၊ အသင်တို့သည် ညဉ့်၌ အနားယူကြအံ့သောငှာလည်းကောင်း၊ အသင်တို့သည် (နေ့၌) ထိုအရှင်မြတ်၏ ကျေးဇူးတော်တည်းဟူသော စားနပ်ရိက္ခာ ဖွေရှာကြအံ့သောငှာလည်းကောင်း၊ ပြုလုပ် ဖန်ဆင်းတော် မူခဲ့ပေသည်။ သို့မှသာလျှင် အသင်တို့သည် ကျေးဇူးသိတတ်ကြရာသတည်း။ ^၁

وَيَوْمَ يُنَادِيهِمْ فَيَقُولُ أَيْنَ شُرَكَآءِيَ الَّذِينَ كُنتُمْ تَزْعُمُونَ ﴿٧٤﴾

၇၄။ စင်စစ် အကြင်နေ့တွင် ထိုအရှင်မြတ်သည် ၎င်းတို့အား အသင်တို့သည် ငါ အရှင်မြတ်၏ တွဲဖက်များ ဖြစ်ကြသည်ဟု ထင်မှတ်(ကိုးကွယ်)လျက် ရှိခဲ့ကြသော တွဲဖက်များသည် အဘယ်မှာနည်းဟု ဟစ်ခေါ်မိန့်ကြားတော်မူမည်။

---

(၁) **နေ့နှင့်ညဉ့်၏အကျိုး။**

အလ္လာဟ်အရှင်မြတ်သည် မိမိ၏ကရုဏာတော်ဖြင့် နေ့အချိန် လူသားတို့သွားလာလုပ်ရှား စီးပွားရှာဖွေ၍ ညဉ့်အချိန် အနားယူနိုင်ရန်အလို့ငှာ နေ့နှင့်ညဉ့်ကို အဆင်ပြေပြေ စီမံထားတော်မူသည်။ လူသားတို့အဖို့ နေ့နှင့်ညဉ့်မရှိက အခက်။ နေ့ချည်း ဖြစ်ရှိနေပါကလည်း အခက်၊ ညဉ့်ချည်း ဖြစ်ရှိနေပါကလည်း အခက်။ ယင်းသို့ ဖြစ်ရှိနေပါက အလ္လာဟ်အရှင်မြတ်မှတစ်ပါး လူသားတို့ ပြုလုပ်ထားသည့် ကိုးကွယ်ရာများအနက် အဘယ်ကိုးကွယ်ရာသည် ထိုသည့် နေ့နှင့်ညဉ့်ကို ယူဆောင်လာနိုင်အံ့နည်း။

ဤသည်ကိုပင် စဉ်းစားဆင်ခြင်ပါက အလ္လာဟ်အရှင်မြတ်သည် အတိုင်းအဆမရှိ တန်ခိုးတော်နှင့် ပြည့်စုံတော်မူကြောင်း၊ ထိုအရှင်မြတ်၌ ဂုဏ်ရည်တု မရှိကြောင်း၊ တစ်ဆူတည်းသော ဆည်းကပ်ကိုးကွယ်ရာ အရှင်သခင် ဖြစ်တော်မူကြောင်း၊ အတိုင်းမသိ ကြီးမားလှသော ကျေးဇူးတော်ရှင် ဖြစ်တော်မူကြောင်း ကောင်းစွာ သိနိုင်ပေသည်။

وَنَزَعْنَا مِنْ كُلِّ أُمَّةٍ شَهِيدًا فَقُلْنَا هَاتُوا بُرْهَانَكُمْ فَعَلِمُوا أَنَّ الْحَقَّ لِلَّهِ وَضَلَّ عَنْهُمْ مَا كَانُوا يَفْتَرُونَ ۝٧٥

၇၅။ ၎င်းပြင် ငါအရှင်မြတ်သည် သာသနာဝင် အုပ်စုတိုင်းမှ သက်သေတစ်ဦးစီကို ထုတ်ပြတော်မူပြီးလျှင် (ကာဖိရ် သွေဖည် ငြင်းပယ်ကြကုန်သောသူတို့အား) 'အသင်တို့သည် (ယုဉ်တွဲ ကိုးကွယ်မှု မှန်ကန်ကြောင်းနှင့် စပ်လျဉ်း၍) မိမိတို့၏ သက်သေသာဓက အထောက်အထားကို တင်ပြကြလေကုန်'ဟု မိန့်ကြားတော်မူမည်။ ထိုအခါ ၎င်းတို့သည် မှန်ကန်မှုမှာ (အမှန်တရားမှာ) အလ္လာဟ်အရှင်မြတ်၌သာ ရှိကြောင်း ကောင်းစွာ သိရှိသွားကြပေမည်။ ၎င်းပြင် ၎င်းတို့လီဆယ် ဖန်တီးလေ့ရှိခဲ့ကြသော အရာများမှာလည်း၎င်းတို့ထံမှပျောက်ပျက်၍သွားကြပေမည်။[၁]

---

(၁) **ကိယာမတ်နေ့တွင် မုရှ်ရစ်က်တို့၏ ဖြစ်အင်။**

ကိယာမတ်နေ့တွင် အလ္လာဟ်အရှင်မြတ်က မုရှ်ရစ်က်တို့အား အသင်တို့ ငါအရှင်မြတ်၏ တွဲဖက်ယှဉ်ဖက် ဖြစ်သည်ဟူ၍ ထင်မှတ် ကိုးကွယ်ခဲ့ကြသော ငါအရှင်မြတ်၏ တွဲဖက်များကား အဘယ်မှာနည်းဟု မေးမြန်းတော်မူမည်။ အလ္လာဟ်အရှင်မြတ်၌ တွဲဖက်ယှဉ်ဖက်ဟူ၍ အလျှင်းမရှိပေရာ၊ မုရှ်ရစ်က်များသည် မည်သို့မျှ အဖြေပေးနိုင်ကြမည် မဟုတ်ပေ။

ထို့နောက် အလ္လာဟ်အရှင်မြတ်သည် အုပ်စုတိုင်းမှ တမန်တော်များအား သက်သေအဖြစ် ထုတ်ပြတော်မူမည်။ တမန်တော်များကလည်း မိမိတို့၏ မျိုးနွယ်များနှင့် ပတ်သက်၍ ဟုတ်တိုင်းမှန်ရာကို သက်သေထွက်ဆိုကြပေမည်။ မုရှ်ရစ်က်တို့ကား မည်သို့မျှ ငြင်းကွယ်နိုင်ကြမည် မဟုတ်ပေ။

ထို့နောက် အလ္လာဟ်အရှင်မြတ်က မုရှ်ရစ်က်တို့အား လူ့လောက၌ ရှိခဲ့ကြစဉ် မိမိတို့ လိုက်နာကျင့်သုံးခဲ့ကြသော ရှစ်ရ်က် ယှဉ်တွဲကိုးကွယ်မှု၏ မှန်ကန်ကြောင်းနှင့် စပ်လျဉ်း၍ အထောက်အထား ပြကြကုန်ဟု မိန့်ကြားတော်မူမည်။ မုရှ်ရစ်က်တို့ကား အသို့မျှ အထောက်အထား ပြနိုင်ကြမည် မဟုတ်ပေ။

ထိုအခါ အလ္လာဟ်အရှင်မြတ် တစ်ပါးတည်းသာလျှင် အမှန်တကယ်ကိုးကွယ်ရာ အရှင်သခင် ဖြစ်တော်မူကြောင်း၊ တမန်တော်များမှတစ်ဆင့် ဟောကြားတော်မူခဲ့သော အလ္လာဟ်အရှင်မြတ်၏ တရားတော်များသာလျှင် မှန်ကန်ကြောင်း၊ မုရှ်ရစ်က်တို့ ကိုယ်တွေ့မျက်မြင် သိရှိသွားကြပေမည်။ ၎င်းတို့ လုပ်ကြံ ဖန်တီးထားခဲ့ကြသော စကားများ၊ တွေးထင်ခဲ့ကြသော အတွေးအခေါ်များ၊ အထင်ကြီးခဲ့သော ကိုးကွယ်ရာများသည် အပျောက်ကြီးပျောက်သွားကြပေမည်။ ဤကား မုရှ်ရစ်က်တို့၏ ဖြစ်အင်တည်း။

إِنَّ قَارُونَ كَانَ مِن قَوْمِ
مُوسَىٰ فَبَغَىٰ عَلَيْهِمْ ۖ وَآتَيْنَاهُ
مِنَ الْكُنُوزِ مَا إِنَّ مَفَاتِحَهُ
لَتَنُوءُ بِالْعُصْبَةِ أُولِي الْقُوَّةِ
إِذْ قَالَ لَهُ قَوْمُهُ لَا تَفْرَحْ ۖ إِنَّ
اللَّهَ لَا يُحِبُّ الْفَرِحِينَ ٧٦

၇၆။ စင်စစ်ကေန် 'ကာရူန်' သည် မူစာ၏ (သားချင်း)တို့အနက်မှပင်ဖြစ်ခဲ့၏။ သို့ရာတွင် ထို 'ကာရူန်' သည်ထိုအမျိုးသားတို့အပေါ်၌ မာန်မာန ထောင်လွှားခဲ့၏။ [၁] စင်စစ်သော်ကားငါအရှင်မြတ်သည် ၎င်းအား အဘယ်မျှလောက် ရွှေငွေဘဏ္ဍာများကို ချီးမြှင့်ပေးသနားတော်မူခဲ့သည်ဟူမူ၊ ယင်းရွှေငွေ ဘဏ္ဍာများ၏သော့များသည် ခွန်အားဗလနှင့် ပြည့်စုံသော လူတစ်စုကိုပင် မနိုင်မနင်း ဖြစ်စေကြလေသည်။ တစ်ရံရောအခါဝယ် ထို'ကာရူန်' ၏(သားချင်း)တို့က ၎င်းအား (ဤသို့)ပြောဆို (ဆုံးမခဲ့)ကြကုန်၏။ 'အသင်သည် ဂုဏ်မမောက်လေနှင့်၊' ဧကန်အမှန် အလ္လာဟ်အရှင်မြတ်သည် ဂုဏ်မောက်သောသူတို့အား နှစ်သက်တော်မူသည် မဟုတ်ပေ။

---

(၁) <u>ကာရူန် မြေအမျိုခံရခြင်း။</u>

ကာရူန်၏အမည်ကို ကုရ်အာန်တွင် (၄)နေရာ၌ တွေ့ရှိရသည်။ ကြည့်-ကုရ်အာန် (၂၈:၇၆။ ၂၈:၇၉။ ၂၉:၃၉။ ၄၀:၂၄)။

ကာရူန်သည် တမန်တော်မူစာ၏ မျိုးနွယ်မှဖြစ်သည်။ တမန်တော်မူစာ၏ ဘထွေး၏သား ဖြစ်သည်။

ကာရူန်သည် ဖစ်ရ်အောင်န်ထံ ရင်းနှီးစွာ ဝင်ထွက်သွားလာလေ့ရှိခဲ့၏။ မင်းဆိုးများသည် လူမျိုးတစ်မျိုးကို ဖိနှိပ်ချုပ်ချယ်နိုင်ရန်အတွက် ယင်းလူမျိုးတို့အနက်မှ အချို့ သစ္စာဖောက်များကို လက်သပ်မွေး၍ လက်ကိုင်တုတ်လုပ်ထားလေ့ရှိကြသကဲ့သို့ ဖစ်ရ်အောင်န်သည်လည်း အစ္စရာအီလီ မျိုးနွယ်ဝင်တို့အား ဖိနှိပ် ချုပ်ချယ်နိုင်ရန်အတွက် ၎င်းတို့အနက်မှ ကာရူန်ကို လက်ကိုင်တုတ် ပြုလုပ်ထားခဲ့လေသည်။ ကာရူန်သည် ထိုအချိန်တွင် ဖစ်ရ်အောင်န်ထံမှ မင်းအာဏာလည်း ရရှိထားခဲ့၏။ ထိုသည့် မင်းအာဏာကို အကြောင်းပြု၍ ဥစ္စာပစ္စည်း အမြောက်အမြားကိုလည်း စုဆောင်းထားနိုင်ခဲ့၏။ ဖစ်ရ်အောင်န် နှင့်တကွ ၎င်း၏ရဲမက်များ ရေနစ်သေကျေပျက်စီး သွားကြသည့်အခါ အစ္စရာအီလီ မျိုးနွယ်ဝင်များသည် တမန်တော်မူစာ၏ အာဏာစက်အောက်သို့ ရောက်ရှိလာခဲ့ကြ၏။

ထိုအခါ ကာရူန်သည် အာဏာမဲ့ ဖြစ်သွားခဲ့လေသည်။ ဥစ္စာဓန စုဆောင်းရန် အခွင့်အလမ်းများလည်း ပိတ်၍ သွားခဲ့လေသည်။ ထို့အတွက် ကာရူန်သည် တမန်တော် မူစာအပေါ်၌ အမျက်ထွက်နေခဲ့၏။ မနာလိုစိတ်ပြင်းထန်နေခဲ့၏။ သို့တစေလည်း ကာရူန်သည် ပရိယာယ်ဖြင့် အမြင်တွင် အီမာန် သက်ဝင်ယုံကြည်သူ 'မုအ်မင်န်' အဖြစ်နှင့်ပင် နေနေခဲ့၏။ ကာရူန်သည် ထိုသို့ အရေးနိမ့်နေသည့်အခိုက်တွင် တောင်ရာတ်ကျမ်းကို များစွာရွတ်ဖတ်၍နေ၏။ ပညာဆည်းပူး၍ နေ၏။ စိတ်ကား မသန့်ရှင်းပေ။ တမန်တော်မူစာနှင့် တမန်တော်ဟာရူန်တို့အား အလ္လာဟ်အရှင်မြတ် ချီးမြှင့်ထားတော်မူသော ဂုဏ်အင်ဒြပ်ကိုကြည့်၍ ကာရူန်သည် ဒေါသအမျက်ထွက်နေခဲ့၏။ ကာရူန်က မူစာနှင့်ဟာရူန်တို့သည် တမန်တော်များဖြစ်ကာ သာသနာရေးတွင် ရှေ့ဆောင်မှုကို ➢➢

وَابْتَغِ فِيمَا آتَاكَ اللَّهُ الدَّارَ الْآخِرَةَ وَلَا تَنسَ نَصِيبَكَ مِنَ الدُّنْيَا وَأَحْسِن كَمَا أَحْسَنَ اللَّهُ إِلَيْكَ وَلَا تَبْغِ الْفَسَادَ فِي الْأَرْضِ إِنَّ اللَّهَ لَا يُحِبُّ الْمُفْسِدِينَ ﴿٧٧﴾

၇၇။ ၎င်းပြင် အသင်သည် မိမိအား အလ္လာဟ် အရှင်မြတ်က ချီးမြှင့်ပေးသနားတော်မူခဲ့သည့် (ရွှေငွေ ဥစ္စာပစ္စည်းတို့)တွင် တမလွန်ဘဝကိုလည်းရှာဖွေလော့။ ထို့ပြင် အသင်သည် လောကီဘဝမှ မိမိ၏ ဝေစုဝေပုံ၊ (နောင်တမလွန်ဘဝသို့ယူဆောင်သွားရန်) မမေ့မလျော့ လေနှင့်။ထိုမှတပါးအသင့်အား အလ္လာဟ်အရှင်မြတ်က ကျေးဇူးပြုတော်မူဘိသကဲ့သို့ပင် အသင်သည်လည်း (သူတစ်ပါးတို့အား) ကျေးဇူးပြုလော့၊ အသင်သည် တိုင်းပြည်တွင်ဖျက်ဆီးမှုကို မလိုလားလေနှင့်။ မချွတ် ဧကန် အလ္လာဟ်အရှင်မြတ်သည် ဖျက်ဆီးသူတို့အား နှစ်သက်တော်မူသည် မဟုတ်ပေတကား။

---

➤➤ ရရှိထားကြ၏။ ငါကားမရ။ ဤကား အရေးမကြီးလှ၊ အဘယ်ကြောင့်ဆိုသော် မည်သူတစ်ဦးတစ်ယောက် ၌မျှမရှိသော ဥစ္စာပစ္စည်းသည် ငါ့၌ရှိသည်၊ ငါသည် ဥစ္စာဓနအားဖြင့်အကြွယ်ဝဆုံး၊ အချမ်းသာဆုံး ဖြစ်သည်ဟု မောက်မာဝါကြွား ပြောဆိုနေခဲ့၏။ တစ်ခါသော် တမန်တော်မူစာက ဇကာတ်ပေးဆောင်ရန် မိန့်ကြား၏။ ထိုအခါ ကာရူန်က မိမိ၏ တပည့်များအား 'အသင်တို့ ငါတို့သည် (တမန်တော်)မူစာ ယူဆောင်လာသော တရားတော်များကို လက်ခံခဲ့ကြ သည်။ ယခုတစ်ဖန် မူစာသည် ငါတို့ထံမှ ငါတို့၏ ဥစ္စာပစ္စည်းများကိုပင် တောင်းဆိုလာပြန်ပြီ။ အသင်တို့သည် ဤတောင်းဆိုချက်ကို လက်ခံကြမည်လောဟု ဆိုရာ၊ အချို့က ကာရူန်အား ထောက်ခံသောအနေဖြင့် ကျွန်ုပ်တို့သည် ဤတောင်းဆိုချက်ကို လုံးဝ လက်ခံကြမည်မဟုတ် ပြောဆိုခဲ့ကြ၏။

ကာရူန်သည် နောက်ဆုံးတွင် တမန်တော်မူစာအား နာမည်ဖျက်ရန်အတွက် ညစ်ညမ်းသော အကြံ အစည်တစ်ခုကို ကြံစည်တွေးဆကာ အမျိုးသမီး တစ်ဦးအား အမျိုးမျိုး သွေးဆောင်ဖြားယောင်းပြီး ပရိသတ် စုံညီရှေ့တွင် (ဇိနာ)တစ်ပါးသော မယားအား ဖျက်ဆီးခြင်းသည် ပြစ်ဒဏ် အဘယ်မျှ ကြီးလေးသည့်အကြောင်း တမန်တော်မူစာ ဟောကြားနေချိန်တွင် 'တမန်တော်မူစာသည် ကျွန်မအား ပြစ်မှားပါသည်'ဟု မတရားစွပ်စွဲ ပြောဆိုစေခဲ့လေသည်။ အဆိုပါ အမျိုးသမီးယုတ်သည်လည်း မိမိအား ကာရူန် သင်ပေးထားသည့်အတိုင်း တမန်တော်မူစာအား မတရား စွပ်စွဲပြောဆိုခဲ့လေသည်။

ထိုအခါ တမန်တော်မူစာသည် အဆိုပါအမျိုးသမီးအား သူတစ်ပါးကို မတရားစွပ်စွဲပြောဆိုပါက အလ္လာဟ်အရှင်မြတ်၏ ကြီးလေးသော ပြစ်ဒဏ်ကို ခံရမည့်အကြောင်း သတိပေး၍ ပြင်းပြင်းထန်ထန် ကျိန်ဆိုစေပြီး အမှန်အတိုင်း မှန်ကန်စွာပြောဆိုရန် ပြောကြားသောအခါ အဆိုပါအမျိုးသမီးက 'အမှန်မှာ တမန်တော်မူစာသည် ကျွန်မအား အလျင်း ပြစ်မှားတော်မူသည် မဟုတ်ပါ၊ ကာရူန်က သင်ကြားပေးသည့်အတိုင်း တမန်တော်မူစာအား မတရား စွပ်စွဲပြောဆိုမိခြင်းသာ ဖြစ်ပါသည်'ဟု ဖြစ်ရပ်မှန်ကို ဖွင့်ဟ ပြောဆိုသွားခဲ့လေသည်။ ထိုအခါ တမန်တော်မူစာ၏ ကျိန်ဆဲမှုကြောင့် ကာရူန်သည် ၎င်း၏ဘဏ္ဍာတော်တိုက်များနှင့်တစ်ကွ မြေမျိုခြင်းကို ခံလိုက်ရလေသည်။

قَالَ إِنَّمَآ أُوتِيتُهُۥ عَلَىٰ عِلْمٍ عِندِىٓ ۚ أَوَلَمْ يَعْلَمْ أَنَّ ٱللَّهَ قَدْ أَهْلَكَ مِن قَبْلِهِۦ مِنَ ٱلْقُرُونِ مَنْ هُوَ أَشَدُّ مِنْهُ قُوَّةً وَأَكْثَرُ جَمْعًا ۚ وَلَا يُسْـَٔلُ عَن ذُنُوبِهِمُ ٱلْمُجْرِمُونَ ﴿٧٨﴾

၇၈။ ထို 'ကာရွန်' က ငါသည် ဤ(ဥစ္စာပစ္စည်း ရွှေငွေဘဏ္ဍာများ)ကို မိမိအတတ်ပညာတစ်ခုကြောင့် ရရှိခဲ့ခြင်းသာ ဖြစ်သည်ဟု ဆိုခဲ့လေ၏။ မှချကေန် အလ္လာဟ်အရှင်မြတ်သည် ၎င်း၏အလျင် ၎င်းထက် ပိုမို၍ပင် ခွန်အားဗလအားဖြင့် ပြင်းထန်လှသည့်ပြင် အခြွေအရံအားဖြင့်လည်း ၎င်းထက်ပိုမို၍ များပြားသောမျိုးဆက်တို့အား ဖျက်ဆီးတော်မူခဲ့ကြောင်းကို ကာရွန်သည် မသိခဲ့ လေသလော။ အပြစ်ရှိသောသူတို့အား ၎င်းတို့၏ ပြစ်မှုများနှင့်စပ်လျဉ်း၍ (စုံစမ်းသည့်အနေဖြင့်)မေးမြန်းရန်ပင် လိုလိမ့်မည် မဟုတ်ပေတကား။

فَخَرَجَ عَلَىٰ قَوْمِهِۦ فِى زِينَتِهِۦ ۖ قَالَ ٱلَّذِينَ يُرِيدُونَ ٱلْحَيَوٰةَ ٱلدُّنْيَا يَـٰلَيْتَ لَنَا مِثْلَ مَآ أُوتِىَ قَـٰرُونُ إِنَّهُۥ لَذُو حَظٍّ عَظِيمٍ ﴿٧٩﴾

၇၉။ ထို့နောက် ထို 'ကာရွန်' သည် မိမိအမျိုးသားတို့ရှေ့ဝယ် မိမိအခမ်းအနားနှင့်တကွ ထွက်ခဲ့လေ၏။ (ထိုအခါ) လောကီဘဝကို အလိုရှိသူတို့က 'ဩော်-ကာရွန်ရရှိခဲ့သောဥစ္စာပစ္စည်း (အခမ်းအနား)မျိုးသည် ကျွန်ုပ်တို့၌လည်းရှိခဲ့လျှင် ကောင်းလေစွ၊ ကေန်မလွဲ ထိုကာရွန်မှာ ကြီးကျယ်စွာသော အကြောင်းလှခြင်းကို ပိုင်ဆိုင်သူ ဖြစ်ပေသည်တကား' ဟုဆိုခဲ့ကြကုန်၏။

وَقَالَ ٱلَّذِينَ أُوتُوا۟ ٱلْعِلْمَ وَيْلَكُمْ ثَوَابُ ٱللَّهِ خَيْرٌ لِّمَنْ ءَامَنَ وَعَمِلَ صَـٰلِحًا ۚ وَلَا يُلَقَّىٰهَآ إِلَّا ٱلصَّـٰبِرُونَ ﴿٨٠﴾

၈၀။ သို့ရာတွင် အသိပညာကို ချီးမြှင့်ပေးသနားတော်မူခြင်းခံကြရသောသူတို့ကမူကား 'အသင်တို့၌ (အကျိုးနည်းပါစေ၊) 'အီမာန်' သက်ဝင် ယုံကြည်ပြီး ကောင်းမြတ်သော အကျင့်သီလကို ကျင့်မူ ဆောက်တည်ကြကုန်သောသူတို့အဖို့ အလ္လာဟ်အရှင်မြတ်အထံတော်မှ(ချီးမြှင့်ပေးသနားတော်မူအပ်သော)အကျိုး 'ဆဝါဗ်' သည် အကောင်းဆုံးပင် ဖြစ်ပေသည်။ သို့ရာတွင် ယင်းအကျိုး 'ဆဝါဗ်'ကို သည်းခံတရားထားရှိသောသူတို့သည်သာလျှင် ရရှိကြပေသည်'ဟု ပြောဆိုခဲ့ကြကုန်သတည်း။

فَخَسَفْنَا بِهٖ وَبِدَارِهِ الْاَرْضَ فَمَا كَانَ لَهٗ مِنْ فِئَةٍ يَّنْصُرُوْنَهٗ مِنْ دُوْنِ اللّٰهِ وَمَا كَانَ مِنَ الْمُنْتَصِرِيْنَ ﴿٨١﴾

၈၁။ ထို့နောက်ငါအရှင်မြတ်သည် ထို'ကာရူန်'အား ၎င်း၏အိမ်နှင့်တကွ မြေမျိုစေတော်မူခဲ့ရာ၊ အလ္လာဟ်အရှင်မြတ်နှင့် ယှဉ်ပြိုင်၍ ၎င်းအား ကူညီစောင်မမည့် အစုလည်း မရှိခဲ့ပေ။ ၎င်းကိုယ်တိုင်လည်း (မိမိကိုယ်ကို) ကယ်တင်နိုင်ခဲ့သည် မဟုတ်ပေ။

وَاَصْبَحَ الَّذِيْنَ تَمَنَّوْا مَكَانَهٗ بِالْاَمْسِ يَقُوْلُوْنَ وَيْكَاَنَّ اللّٰهَ يَبْسُطُ الرِّزْقَ لِمَنْ يَّشَآءُ مِنْ عِبَادِهٖ وَيَقْدِرُ لَوْلَآ اَنْ مَّنَّ اللّٰهُ عَلَيْنَا لَخَسَفَ بِنَا وَيْكَاَنَّهٗ لَا يُفْلِحُ الْكٰفِرُوْنَ ﴿٨٢﴾

၈၂။ ထိုမှတပါး ယမန်နေ့ကင်းကဲ့သို့ဖြစ်ရန် တပ်မက်တောင့်တခဲ့ကြသော သူတို့က 'ဩော်-အံ့ပါဘိ၊ အလ္လာဟ်အရှင်မြတ်သည် မိမိ အလိုရှိတော်မူသောသူအား စားနပ်ရိက္ခာကိုကျယ်ပြန့်စွာ ချီးမြှင့်ပေးသနားတော်မူ၍(မိမိအလိုမရှိတော်မူသောသူအား) ကျပ်တည်းစေတော်မူပါသည်။အကယ်၍သာ အလ္လာဟ်အရှင်မြတ်သည် ကျွန်ုပ်တို့အပေါ်၌ ကျေးဇူးပြုတော်မမူခဲ့ပါလျှင် ကျွန်ုပ်တို့အားလည်း မြေမျိုစေတော်မူခဲ့မည်သာ ဖြစ်ပေသည်။ ဩော်-အကျိုးနည်းလေခြင်း၊ 'ကာဖိရ်' သွေဖည်ငြင်းပယ်သော သူတို့မှာ အောင်မြင်ကြသည် မဟုတ်ပေတကား' ဟု ပြောဆိုကြကုန်သတည်း။

تِلْكَ الدَّارُ الْاٰخِرَةُ نَجْعَلُهَا لِلَّذِيْنَ لَا يُرِيْدُوْنَ عُلُوًّا فِى الْاَرْضِ وَلَا فَسَادًا وَالْعَاقِبَةُ لِلْمُتَّقِيْنَ ﴿٨٣﴾

၈၃။ ဤသည် *တမလွန်ဘဝ၏ဗိမာန်တည်း။* [၁] ငါအရှင်မြတ်သည် ထိုဗိမာန်ကို အကြင်သူတို့အဖို့ သတ်မှတ်ပေးသနားတော်မူသည်။ ထိုသူတို့သည် တိုင်းပြည်တွင် မောက်မာပလွှားမှုကိုလည်း အလိုရှိကြသည် မဟုတ်ပေ။ ဖျက်ဆီးမှုကိုလည်း လိုလားကြသည်မဟုတ်ပေ။စင်စစ်သော်ကား (ကောင်းမြတ်သော) အကျိုးဆက်သည် ပြစ်မှုဒုစရိုက်များမှ ကြဉ်ရှောင်ကြကုန်သော သူတို့အဖို့သာ ဖြစ်ပေသည်။

---

(၁) **နောင်တမလွန်ဘဝနှင့် ထိုက်တန်သူများ။**

ဤပစ္စက္ခဘဝသည် အရိပ်ပမာ သခ်ါရမျှသာ ဖြစ်သည်။ နောင်တမလွန်ဘဝသည် ထာဝရဖြစ်သည်၊ အဓိကဖြစ်သည်။ နောင်တမလွန်ဘဝ၏သုခသည် မွတ်စ်လင်မ်တို့၏ နောက်ဆုံးပန်းတိုင် ဖြစ်သည်။ ဤပစ္စက္ခဘဝသည် အဆိုပါပန်းတိုင်သို့ ချီတက်သွားရာတွင် ခေတ္တစခန်းချရာ အရိပ်ပမာဖြစ်သည်။ ကြည့်-ကုရ်အာန်(၂၉း၆၄)

مَنْ جَآءَ بِالْحَسَنَةِ فَلَهُۥ خَيْرٌ مِّنْهَا ۖ وَمَن جَآءَ بِالسَّيِّئَةِ فَلَا يُجْزَى الَّذِينَ عَمِلُوا السَّيِّـَٔاتِ إِلَّا مَا كَانُوا يَعْمَلُونَ ﴿٨٤﴾

إِنَّ الَّذِى فَرَضَ عَلَيْكَ الْقُرْءَانَ لَرَآدُّكَ إِلَىٰ مَعَادٍ ۚ قُل رَّبِّىٓ أَعْلَمُ مَن جَآءَ بِالْهُدَىٰ وَمَنْ هُوَ فِى ضَلَٰلٍ مُّبِينٍ ﴿٨٥﴾

**၈၄။** မည်သူမဆို ကောင်းမှုကို ဆောင်ကြဉ်းခဲ့သည်ရှိသော်၊ ထိုသူ၏အဖို့ ယင်းကောင်းမှုထက် ပိုမိုကောင်းမြတ်သော (အကျိုး)သည် ရှိပေသည်။ သို့ရာတွင် မည်သူမဆို မကောင်းမှု ဆောင်ကြဉ်းခဲ့မူ မကောင်းမှုများကို ကျင့်မူခဲ့ကြကုန်သော သူတို့ကား မိမိတို့ကျင့်မူခဲ့ကြကုန်သော ပြစ်မှုနှင့်အမျှသာလျှင် အစားပေးခြင်းကို ခံကြရကုန်အံ့သတည်း။

**၈၅။** ကေန်မလွဲ(အို-နဗီတမန်တော်၊) အသင့်အပေါ်၌ ကုရ်အာန်ကျမ်းတော်မြတ်ကို (ချမှတ်)ပြဋ္ဌာန်း၍ပေးတော်မူခဲ့သော အရှင်မြတ်သည် အသင့်အား (အသင်၏)ဇာတိနေရပ်သို့ *အမှန်ပင်ပြန်၍ ပို့ပေးတော်မူအံ့သော အရှင်ဖြစ်တော်မူ၏။* [၁] (အို-နဗီတမန်တော်၊) အသင်သည် ပြောကြားပါလေ။ ငါ့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်သည် တရားလမ်းမှန်ကို ဆောင်ကြဉ်းခဲ့သောသူအားလည်းကောင်း၊ထင်ရှားစွာသော လမ်းမှား၌ရှိနေသောသူအားလည်းကောင်း၊ ကောင်းစွာ သိရှိတော်မူ၏။

---

(၁) အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ရိုသေ ခန့်ညားး၍ မမောက်မာ၊မပလွှားသော ဖျက်ဆီးမှုမပြုသော မွတ္တကီသူတော်စင်များသည် နောင်တမလွန်ဘဝ၏ ကောင်းကျိုးချမ်းသာ အဖြာဖြာကို ခံစားကြရမည့်အကြောင်း၊ အထက်တွင်ပါရှိခဲ့၏။ ယခု ဤအာယတ်တော်တွင် ဤပစ္စက္ခ၌လည်း နောက်ဆုံးတွင် အောင်မြင်မှုကို ယင်းမွတ္တကီသူတော်စင်များပင် ရရှိကြမည့်အကြောင်း မိန့်ဆိုထားတော်မူသည်။

တမန်တော်မြတ်သည် မက္ကာမြို့သား ကာဖိရ်၊ မုရှ်ရစ်က်များ၏ ကျူးကျော် စော်ကားမှုများ၏ ဒဏ်ကို မခံမရပ်နိုင်သည့် အဆုံးတွင် အလ္လာဟ်အရှင်မြတ်၏ ညွှန်ကြားချက်အရ မက္ကာမြို့တော်မှ (ဟိဂ်ျရတ်) စွန့်ခွာ တိမ်းရှောင်နေတော်မူခဲ့ရရှာလေသည်။ ဤသို့ တိမ်းရှောင်နေတော်မူရခြင်းကား ယာယီသာ။ တမန်တော်မြတ်အား တမန်တော်ဂုဏ်ဖြင့် ချီးမြှင့်တော်မူ၍ ကုရ်အာန်ကျမ်းမြတ် ကဲ့သို့သော ကျမ်းထူးကျမ်းမြတ်ကို ထုတ်ပြန်ချမှတ် ပြဋ္ဌာန်းပေးတော်မူသော အလ္လာဟ်အရှင်မြတ်သည် တမန်တော်မြတ်အား မက္ကာမြို့တော်သို့ အောင်မြင်စွာ ပြန်လည် ပို့ဆောင်တော်မူမည်သာ။

တမန်တော်မြတ် မက္ကာမြို့မှ (ဟိဂ်ျရတ်) စွန့်ခွာသွားတော်မူသည့် အချိန်တွင် ဤအာယတ်တော်သည် ကျရောက်လာခဲ့ပေသည်။ ဆိုလိုသည်ကား တမန်တော်မြတ်သည် မက္ကာမြို့တော်မှ ခေတ္တခဏ တိမ်းရှောင် ➤➤

وَمَا كُنتَ تَرْجُوٓا۟ أَن يُلْقَىٰٓ إِلَيْكَ ٱلْكِتَٰبُ إِلَّا رَحْمَةً مِّن رَّبِّكَ فَلَا تَكُونَنَّ ظَهِيرًا لِّلْكَٰفِرِينَ ﴿٨٦﴾

၈၆။ စင်စစ် အသင်သည် မိမိထံသို့ (ဤကုရ်အာန်)ကျမ်းမြတ် ချပေးသနားတော်မူခြင်းခံရမည်ဟု မျှော်လင့်၍ နေခဲ့သည်ပင် မဟုတ်ပေ။ သို့ရာတွင် အသင့်အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်၏ ကရုဏာတော်ဖြင့် (ကျရောက်လာခဲ့လေပြီ)။ သို့ဖြစ်ပေရာ အသင်သည် (ဤ)'ကာဖိရ်' သွေဖည်ငြင်းပယ်ကြသော သူတို့အား ကူညီထောက်ခံသူ အလျှင်း မဖြစ်ပါလေနှင့်။ ၁

وَلَا يَصُدُّنَّكَ عَنْ ءَايَٰتِ ٱللَّهِ بَعْدَ إِذْ أُنزِلَتْ إِلَيْكَ وَٱدْعُ إِلَىٰ رَبِّكَ وَلَا تَكُونَنَّ مِنَ ٱلْمُشْرِكِينَ ﴿٨٧﴾

၈၇။ ထို့ပြင် အသင့်ထံသို့ အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်များ ကျရောက်လာခဲ့ပြီးနောက်၊ ၎င်းတို့သည် အသင့်အားထိုအမိန့်တော်များမှ လုံးဝ တားဆီးခြင်း မပြုကြစေနှင့်။ ထိုမှတပါး အသင်သည် မိမိအား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်ဘက်သို့ (လူတို့အား) ဖိတ်ခေါ်လျက်ရှိပါလေ။ ၎င်းပြင် အသင်သည် 'မုရှ်ရစ်က်' တစ်စုံတစ်ရာကိုအလ္လာဟ်အရှင်မြတ်နှင့် တွဲဖက် နိုင်းယှဉ်ကိုးကွယ်ကြသော သူတို့တွင် အပါအဝင် အလျှင်း မဖြစ်ပါလေနှင့်။

➤➤ နေတော် မူရသော်လည်း အလ္လာဟ်အရှင်မြတ်သည် တမန်တော်မြတ်အား မက္ကာမီအတွင်း မက္ကာမြို့တော်သို့ ပြန်လည် ပို့ဆောင်ပေးတော်မူမည့်အကြောင်း ကြိုတင် အားပေးစကား မိန့်ကြားထားတော်မူခြင်း ဖြစ်လေသည်။ သို့မိန့်ကြား ထားတော်မူသည့်အတိုင်း တမန်တော်မြတ်သည် ဟဂျ်ရီသက္ကရာဇ် (၈)ခုနှစ်တွင် မက္ကာမြို့တော်ကို ပြန်လည် အောင်နိုင်တော် မူခဲ့သည်မှာ အစ္စလာမ့်သမိုင်းစဉ်တွင် အထင်အရှားပင်။

① **တမန်တော်ဖြစ်ရသည်မှာ အလ္လာဟ်၏ ကျေးဇူးတော်သာ။**

တမန်တော်မြတ်သည် မိမိအား အလ္လာဟ်အရှင်မြတ်က တမန်တော်၏ဂုဏ်ဖြင့် ချီးမြှင့်တော်မူ၍ ကုရ်အာန်ကျမ်းမြတ်ကို ထုတ်ပြန်ချမှတ် ပေးသနားတော် မူလိမ့်မည်ဟု မျှော်လင့်နေတော်မူခဲ့သည် မဟုတ်ပေ။ ဤသည် အလ္လာဟ်အရှင်မြတ်၏ ကရုဏာတော်မျှသာ ဖြစ်သည်။ အလ္လာဟ်အရှင်မြတ်သည် မိမိ၏ ကရုဏာတော်ဖြင့် တမန်တော်မြတ်အား ယင်းသို့ ချီးမြှင့်မြှောက်စားတော် မူခဲ့ပေရာ ထိုအရှင်မြတ်သည်ပင် တမန်တော်မြတ်အား မိမိ၏ကျေးဇူးတော်ဖြင့် နှစ်ဘဝလုံးတွင် အောင်မြင်စေတော် မူမည်သာဖြစ်သည်။ သို့ဖြစ်ရာ တမန်တော်မြတ်သည် အလ္လာဟ်အရှင်မြတ်အားသာလျှင် အားထားတော်မူရပေမည်။ ထိုအရှင်မြတ်မှတစ်ပါး အခြားမည်သူ့ကိုမျှ မေ့မှား၍မျှ အားထားတော်မမူရာ။

وَلَا تَدْعُ مَعَ اللّٰهِ اِلٰهًا اٰخَرَ ۘ لَآ اِلٰهَ اِلَّا هُوَ ۟ كُلُّ شَيْءٍ هَالِكٌ اِلَّا وَجْهَهٗ ؕ لَهُ الْحُكْمُ وَاِلَيْهِ تُرْجَعُوْنَ ﴿٨٨﴾

၈၈။ ထိုမှတပါး အသင်သည် အလ္လာဟ်အရှင်မြတ်နှင့်အတူ မည်သည့်ကိုးကွယ်ရာကိုမျှပင် ဟာစ်ခေါ်(တသ)ခြင်း မပြုပါလေနှင့်။ ထိုအရှင်မြတ်မှတပါး ဆည်းကပ်ကိုးကွယ်ရာဟူ၍ အလျှင်းမရှိပြီ။ ထိုအရှင်မြတ်မှတပါး၊ *အခြားအရာခပ်သိမ်းကုန်တို့သည် ပျက်စီးဆုံးပါးမည့်အရာချည်းသာဖြစ်ကုန်၏။* [၁] အမိန့်အာဏာအလုံးစုံတို့သည် ထိုအရှင်မြတ်၌သာ ရှိကုန်၏။ ထိုမှတပါး*အသင်တို့သည် ထိုအရှင်မြတ် အထံတော်သို့သာလျှင် ပြန်သွားကြရမည်သာတည်း။* [၂]

---

(၁) အလ္လာဟ်အရှင်မြတ်၌ အစမရှိ၊ အဆုံးမရှိ၊ ထိုအရှင်မြတ်သည် နိစ္စ ထာဝရ တည်ရှိတော်မူသောအရှင်ဖြစ်တော်မူသည်။ ထိုအရှင်မြတ်မှတစ်ပါး အခြား အရာခပ်သိမ်းကုန်တို့သည် သခ်ိရမျှသာ ဖြစ်ကြပေရာ ပြောင်းလဲယိုယွင်း ပျက်စီးဆိတ်သုဉ်းသွားကြ မည်ချည်းသာ။ အဘယ့်ကြောင့်ဆိုသော် ထိုအရှင်မြတ်မှတစ်ပါး အခြားခပ်သိမ်းကုန်တို့ အပေါ်၌ ပြောင်းလဲယိုယွင်း ပျက်စီးမှုတည်းဟူသော (ဖနာ)မမြဲသောတရားသည် အမြဲတစေ ဖိစီးလျက် ရှိပေသည်။ ထို့ပြင်တဝ ထိုအရှင်မြတ်မှတစ်ပါး အခြား ခပ်သိမ်းကုန်တို့၌ ရှိနေသော ကိုယ်ခန္ဓာများသည် ကိုယ်ပိုင်မဟုတ်၊ အမြဲတစေ ပြောင်းလဲယိုယွင်း ပျက်စီးဆိတ်သုဉ်းလျက် ရှိကြပေသည်။ တစ်နည်းဆိုသော် ထိုအရှင်မြတ်မှတစ်ပါး အခြား ခပ်သိမ်းကုန်တို့၌ရှိသော ကိုယ်ခန္ဓာများသည် ကိုယ်ပိုင်မဟုတ်သည့် အတွက် ရှိခြင်းသည် မရှိခြင်းနှင့် မခြားပေ။

အလ္လာဟ်အရှင်မြတ်၏ မျက်နှာတော်ဟူသည် ထိုအရှင်မြတ်၏ 'ဇာတိ'တော်ကို ဆိုလိုသည်။ ကြည့်-မဒါရိက်၊ ဗိုင်ဿဝီ၊ ကရှ်ရှာဖ်၊ ကဗီရ်၊ ဗဟ်ရ်၊ အီဗ်နုကဆီရ်၊ အီဗ်နုဂျရီရ်၊ ထာနဝီ၊ အွတ်(ဆ်)မာနီ၊ မာဂျိဒီ။

(၂) အမိန့် အာဏာတော်သည် အမှန်စင်စစ် ထာဝရ တည်ရှိတော်မူသော အလ္လာဟ်အရှင်မြတ်၌သာ တည်ရှိပေသည်။ လူသားအားလုံးတို့သည် ထိုအရှင်မြတ်ထံတော်သို့ ပြန်လည် ရောက်ရှိကြရပေမည်။ စာရင်းရှင်းကြရပေမည်။ ကျိုးပြစ်ခံစံကြရပေမည်။

လူသားတို့သည် ဤသည့်အချက်ကို နှလုံးသွင်း၍ အချိန်မီ မိမိတို့၏ စာရင်းများကို ရှင်းထားနိုင်ကြပါက (အင်ရှာ အလ္လာဟ်) ကိယာမတ်နေ့တွင် စာရင်းရှင်းကာ နောင်တမလွန်ဘဝ၏ သုခကိုခံစားခွင့်ရရှိနိုင်ကြပေမည်။

# ပင့်ကူကောင်ကဏ္ဍ

سُورَةُ الْعَنكَبُوتِ

ဤကဏ္ဍသည် 'အလ်အန်ကဗူတ်' ပင့်ကူကောင်အကြောင်း ပါဝင်သော ကဏ္ဍဖြစ်သည်။
မက္ကာမြို့တော်၌ ကျရောက်ခဲ့သည်။
ဤကဏ္ဍတွင် အာယတ်တော် (၆၉)ပါး၊ ရုကူအ်အပိုဒ် (၇)ပိုဒ် အသီးသီးပါရှိသည်။

بِسْمِ اللَّهِ الرَّحْمَٰنِ الرَّحِيمِ

အလွန်တရာ သနားကြင်နာသညာတာတော်မူသော
အထူး ကရုဏာပြုတော်မူသော
အလ္လာဟ်အရှင်မြတ်၏နာမံတော်ဖြင့် အစပြုပါ၏။

الٓمٓ ﴿١﴾

၁။ အလိဖ်၊ လာမ်၊ မီမ်။

أَحَسِبَ النَّاسُ أَن يُتْرَكُوا أَن يَقُولُوا آمَنَّا وَهُمْ لَا يُفْتَنُونَ ﴿٢﴾

၂။ လူတို့သည် ၎င်းတို့က'ကျွန်ုပ်တို့သည်'အီမာန်' သက်ဝင်ယုံကြည်ခဲ့ကြပါပြီ' ဟု ပြောကြသောကြောင့် မိမိတို့မှာ စမ်းသပ်ခြင်း မခံကြရဘဲ လွှတ်ထားခြင်း ခံကြရမည်ဟု ထင်မှတ်ကြလေသလော။ [၁]

وَلَقَدْ فَتَنَّا الَّذِينَ مِن قَبْلِهِمْ فَلَيَعْلَمَنَّ اللَّهُ الَّذِينَ صَدَقُوا وَلَيَعْلَمَنَّ الْكَاذِبِينَ ﴿٣﴾

၃။ စင်စစ်သော်ကား မချွတ်မလွဲ ငါအရှင်မြတ်သည် ၎င်းတို့အလျင် ရှိခဲ့ကြကုန်သော သူတို့အား စမ်းသပ်တော်မူခဲ့၏။ [၂] သို့ဖြစ်ပေရာ မုချကေန် အလ္လာဟ်အရှင်မြတ်သည် မှန်ကန်စွာ ပြောဆိုကြသော သူတို့အား ခွဲခြားသိမြင်အောင် ပြုလုပ်တော်မူပေမည်။ ထိုမှတပါး ကေန်မုချ ထိုအရှင်မြတ်သည် မုသာဝါဒီတို့အားလည်း ခွဲခြားသိမြင်အောင် ပြုလုပ်တော်မူပေမည်။ [၃]

---

(၁) **အီမာန်ယုံကြည်ပါသည်ဟု ဆိုရုံမျှဖြင့် ဘေးမဲ့လွှတ်ထားခြင်းခံရမည် မဟုတ်ပေ။**

အီမာန် ယုံကြည်ပါသည်ဟု ပြောဆိုခြင်းမှာ အမြင်အားဖြင့် လွယ်ကူသောကိစ္စ ဖြစ်သည်ဟု ထင်မှတ်ရသော်လည်း အမှန်မှာ မလွယ်ကူလှပေ။ ကျွန်ုပ် အီမာန် ယုံကြည်ပါသည်ဟု ပြောဆိုသူတစ်ဦးသည် မိမိထုတ်ဖော် ပြောဆိုလိုက်သော ယုံကြည်ချက် မှန်၊မမှန် အစမ်းအသပ်ခံနိုင်ရမည်။ မှတ်ကျောက် အတင်ခံနိုင်ရမည်။ တမန်တော်မြတ်၏ ဩဝါဒတော်များတွင် လာရှိသည်မှာ တမန်တော်များအား စမ်းသပ်မှုမှာ ➢➢

➤➤ အပြင်းထန်ဆုံး ဖြစ်ခဲ့လေသည်။ ထို့နောက် သူတော်စင်များအားစမ်းသပ်မှုမှာ အပြင်းထန်ဆုံး ဖြစ်လေသည်။ ထို့နောက် ထိုသူတော်စင်များနှင့် နီးစပ်သူများအား စမ်းသပ်မှုမှာ သူ့အဆင့်နှင့်သူ ပြင်းထန်ခဲ့ပေသည်။ ပုဂ္ဂိုလ်တစ်ဦးအား စမ်းသပ်မှုမှာ ၎င်း၏သာသနာရေး ရင့်ကျက်မှုနှင့်အမျှ ဖြစ်သည်။ ပုဂ္ဂိုလ်တစ်ဦးသည် သာသနာရေးတွင် ရင့်ကျက်သည်နှင့်အမျှ ပြင်းထန်စွာ စမ်းသပ်ခြင်းကို ခံရပေမည်။

**□② အတိတ်ခေတ် မွတ်စ်လင်မ်များသည်လည်း အစမ်းအသပ်ခံခဲ့ရခြင်း။**

အတိတ်ခေတ်များတွင် တမန်တော်မြတ်နှင့်တကွ ၎င်းတို့၏ နောက်လိုက်တပည့်များသည်လည်း ကြောက်ဖွယ်လိလိ အစမ်းအသပ် ခံခဲ့ကြရပေသည်။ ဗုခါရီကျမ်းတွင် လာရှိသည်မှာ မက္ကာမြို့သား ကာဖိရ်များ၏ နှိပ်စက်မှုဒဏ်ကို မွတ်စ်လင်မ်များ အလူးအလိမ့် ခံစားနေကြရသည့်အချိန်တွင် တစ်နေ့ (ဆွဟာဗဟ်) သာဝကများသည် ထိတ်လန့်ကာ တမန်တော်မြတ်ထံတွင် 'တမန်တော်မြတ်... တမန်တော်မြတ်သည် အလ္လာဟ်အရှင်မြတ်ထံတော်၌ ကျွန်တော်တို့အဖို့ အကူအညီပန်ကြားပေးတော်မူပါ' ဟုလျှောက်ထားခဲ့ကြ၏။

ထိုအခါ တမန်တော်မြတ် က 'အသင်တို့အလျင် ရှိခဲ့ကြသော မွတ်စ်လင်မ်များအနက် အချို့သည် အရှင်လတ်လတ် မြေမြှုပ်၍ ဦးခေါင်းထက်မှ လွှတင်ကာ ၂-ခြမ်းခွဲပြီး သတ်ဖြတ်ခြင်းကိုပင် ခံခဲ့ကြရရှာသည်။ အချို့ မွတ်စ်လင်မ်များသည် သံဘီးဖြင့်ခြစ်ပြီး သားရေများပင် အခွာခံခဲ့ကြရရှာပေသည်။ သို့တစေလည်း ယင်းသည့် လူမဆန်သော ရက်စက်ကြမ်းကြုတ်လှသော နှိပ်စက်မှုများသည် ထိုမွတ်စ်လင်မ်များအား အစ္စလာမ်မှ စိုးစဉ်းမျှပင် ယိမ်းယိုင်စေနိုင်ခဲ့သည်မရှိ' ဟု မြွက်ကြားတော် မူလိုက်လေသည်။ စစ်မှန်သော 'အီမာန်' ယုံကြည်မှု၏ တာဝန်ကား မလွယ်လှပါဘိတကား။

**③ စမ်းသပ်မှု၏ အကျိုး။**

'ကျွန်ုပ်တို့ အီမာန် သက်ဝင်ယုံကြည်ကြပါသည်' ဟု ပြောဆိုသော ပုဂ္ဂိုလ်များအား စမ်းသပ်တော်မူခြင်းမှာ မည်သူမည်ဝါသည် စိတ်စေတနာ ဖြူစင်စွာဖြင့် အမှန်တကယ် အီမာန်သက်ဝင် ယုံကြည်ကြသည်။ မည်သူမည်ဝါသည် အခြေအနေအရ ပရိယာယ်ဖြင့် အမည်ခံ အီမာန်သက်ဝင်ယုံကြည် ကြသည်များကို အထင်အရှား ခွဲခြား သိမြင်စေတော်မူရန်နှင့် အမှန်နှင့်အမှား အစစ်နှင့်မစစ်ကို ခွဲခြား သိထားတော်မူရန်ပင် ဖြစ်သည်။

ယင်းသို့ အမှားနှင့်အမှန်၊ အစစ်နှင့်မစစ်ကို ခွဲခြားထားတော်မူခြင်းမှာ အမှန်နှင့်အစစ်များအဖို့ အမြတ်ပင်။ အဘယ့်ကြောင့်ဆိုသော် မွတ်စ်လင်မ် အစစ်အမှန်များနှင့် အမည်ခံများ အုတ်အရောရော၊ ကျောက် အရောရော ရောပြွမ်းနေကြပါက အရေးကြုံသည့်အခါ ယင်းသည့်အမည်ခံများသည် မွတ်စ်လင်မ်တို့အား မည်သို့မျှ ကောင်းကျိုးမပေးကြသည့်အပြင် ဆိုးကျိုးသာ ပေးလေ့ရှိကြပေသည်။ ဤကား အစ္စလာမ် သမိုင်းစဉ်တွင် အထင်အရှားပင်။

စိတ်စေတနာ ဖြူစင်စွာဖြင့် အီမာန် သက်ဝင်ယုံကြည်သော မွတ်စ်လင်မ်တစ်ဦးသည် အစမ်းအသပ် ခံရသည်နှင့်အမျှ ၎င်း၏ ယုံကြည်မှုသည် ပို၍ပို၍ ရင့်ကျက်လာပေသည်။ ၎င်း၏ အရည်အသွေးမှာ ပို၍ပို၍ ပြောင်မြောက်လာပေသည်။ အမည်ခံ မွတ်စ်လင်မ်မှာမူ အစမ်းအသပ် ခံရသည့်အခါ အစ္စလာမ်ကို ကျောခိုင်းသွားလေသည်။ အမှန်နှင့်အမှား၊ အစစ်နှင့်မစစ် အသို့လျှင် တူနိုင်ကြအံ့နည်း၊ အသို့လျှင် ပေါင်းစပ်နေနိုင်ကြအံ့နည်း။

أَمْ حَسِبَ الَّذِينَ يَعْمَلُونَ السَّيِّئَاتِ أَن يَسْبِقُونَا ۚ سَاءَ مَا يَحْكُمُونَ ④

၄။ သို့တည်းမဟုတ် မကောင်းမှု ဒုစရိုက်များကို ကျင့်မှု (ကျူးလွန်)နေကြကုန်သော သူတို့သည် မိမိတို့မှာ 'ငါအရှင်မြတ် (ဖမ်းဆီးကွပ်မျက်တော်မူခြင်း)မှ ထွက်ပြေးလွတ်မြောက်သွားကြမည်' ဟု ထင်မှတ်ကြလေသလော။ ၎င်းတို့၏ အဆုံးအဖြတ်မှာ အလွန်ဆိုးရွားလှပေသည်တကား။ ၁

مَن كَانَ يَرْجُو لِقَاءَ اللَّهِ فَإِنَّ أَجَلَ اللَّهِ لَآتٍ ۚ وَهُوَ السَّمِيعُ الْعَلِيمُ ⑤

၅။ မည်သူမဆို အလ္လာဟ်အရှင်မြတ်နှင့် တွေ့ဆုံရန်မျှော်လင့်လျက်ရှိခဲ့မူ ဧကန်မလွဲ အလ္လာဟ်အရှင်မြတ် ပြဋ္ဌာန်း၍ ထားတော်မူသော ကာလအပိုင်းအခြားသည် မုချ ဆိုက်ရောက်လာမည်ဖြစ်၏။ စင်စစ်သော်ကား ထိုအရှင်မြတ်သည် အရာခပ်သိမ်းတို့ကို အကြွင်းမဲ့ ကြားတော်မူသော၊ အရာခပ်သိမ်းတို့ကို အကြွင်းမဲ့ သိတော်မူသောအရှင်မြတ်ပင် ဖြစ်တော်မူ၏။

وَمَن جَاهَدَ فَإِنَّمَا يُجَاهِدُ لِنَفْسِهِ ۚ إِنَّ اللَّهَ لَغَنِيٌّ عَنِ الْعَالَمِينَ ⑥

၆။ အမှန်သော်ကား မည်သူမဆို ကြိုးပမ်းဆောင်ရွက်ခဲ့မူ ထိုသူသည် မိမိအကျိုးငှာ ကြိုးပမ်းဆောင်ရွက်သည်သာဖြစ်ချေသည်။ မုချဧကန်အလ္လာဟ်အရှင်မြတ်သည် စကြာဝဠာခပ်သိမ်းတို့ကို(မှ) လိုလားတောင့်တခြင်း ကင်းမဲ့တော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူ၏။

---

(၁) **ကာဖိရ်များ၏ မိုက်မဲသော အဆုံးအဖြတ်။**

မွတ်စ်လင်မ်တို့အား ဒုက္ခပေးနေကြသော ကာဖိရ်များသည် မွတ်စ်လင်မ်တို့ ခံစားနေကြရသော ဒုက္ခများကို ကြည့်ပြီး 'ငါတို့သည် လုလုကြီး ဒုက္ခပေးနေနိုင်ကြသည်၊ ငါတို့သည် ဘေးဒုက္ခများမှလည်း လွတ်မြောက်၍ နေကြမည်'ဟု ထင်မှတ်နေကြသလော။ ဤသို့ မထင်မှတ်ကြရာ။ ယင်း ကာဖိရ်များသည် အလ္လာဟ်အရှင်မြတ်၏ ဖမ်းဆီး ကွပ်မျက်တော်မူခြင်းမှ အသို့လျှင် လွတ်မြောက်သွားနိုင်ကြအံ့နည်း။ ၎င်းတို့သည် မကြာမီအတွင်း ကြီးလေးသော ပြစ်ဒဏ်များကို ခံစားကြရတော့မည်။ ၎င်းတို့ ခံစားကြရမည့် ပြစ်ဒဏ်များ ရှေ့မှောက်တွင် ယခုမွတ်စ်လင်မ်တို့ ခံစားနေကြရသော ဒုက္ခသည် ဘာမျှမဟုတ်သေးပေ။

ကာဖိရ်များသည် မိမိတို့အား ခေတ္တခဏ လျစ်လျူပြုထားတော် မူသည်ကိုကြည့်ပြီး ငါတို့သည် အလ္လာဟ်အရှင်မြတ်၏ ဖမ်းဆီးကွပ်မျက်တော်မူခြင်းကို ဘယ်သောအခါမှ ခံကြရမည်မဟုတ်ဟု ကိုယ့်ဘာသာ➤➤

وَالَّذِيْنَ اٰمَنُوْا وَعَمِلُوا الصّٰلِحٰتِ لَنُكَفِّرَنَّ عَنْهُمْ سَيِّاٰتِهِمْ وَلَنَجْزِيَنَّهُمْ اَحْسَنَ الَّذِيْ كَانُوْا يَعْمَلُوْنَ ⑦

၇။ သို့ရာတွင် အကြင်သူတို့သည် 'အီမာန်' သက်ဝင်ယုံကြည်ပြီး ကောင်းမြတ်သော အကျင့်သီလများကို ကျင့်မှုဆောက်တည်ကြပါမူ၊ မလွဲဧကန် ငါအရှင်မြတ်သည် ၎င်းတို့၏ ပြစ်မှုဒုစရိုက်များကို ၎င်းတို့မှ ပပျောက်စေတော်မူမည်။ ထိုမှတပါး မုချဧကန် ငါအရှင်မြတ်သည် ၎င်းတို့အား ၎င်းတို့ ကျင့်မှုလျက် ရှိခဲ့ကြသည်တို့ထက် ကောင်းမြတ်သော အစားကို ချီးမြှင့်ပေးသနားတော် မူအံ့သတည်း။ ①

---

➤➤ ကိုယ် ဆုံးဖြတ်ထားကြသည်။ ဤသည် အလွန်မိုက်မဲသော ဆုံးဖြတ်ချက်သာ ဖြစ်ပေသည်။ ယင်းသို့သော ဆုံးဖြတ်ချက် သည် သက်ရောက်အံ့သော ပြစ်ဒဏ်ကို မည်သို့မျှ ကာကွယ်နိုင်မည်မဟုတ်ပေ။

① အလ္လာဟ်အရှင်မြတ်နှင့် တွေ့ဆုံရမည်ကို မျှော်လင့်သော မွတ်စ်လင်မ်တစ်ဦးသည် ဤပစ္စက္ခတွင် တွေ့ကြုံခံစားနေရသော ဒုက္ခကြီးငယ်များကြောင့် စိတ်ပျက်နေရန်ပင် မလိုပေ။ အဘယ်ကြောင့်ဆိုသော် အလ္လာဟ်အရှင်မြတ်နှင့် တွေ့ဆုံရန် အချိန်ပိုင်းသည်မုချ ရောက်ရှိလာတော့မည် ဖြစ်သည်။ အလ္လာဟ်အရှင်မြတ်သည် အားလုံးကြားတော်မူသည်၊ အားလုံးသိတော် မူသည်ဖြစ်ရာ မွတ်စ်လင်မ်များ ကိုယ်၊နှုတ်၊နှလုံး သုံးပါးလုံးဖြင့် ကြံဆပြောဆို ကျင့်မှုခဲ့ကြသည်များ၏ ကုသိုလ်အကျိုးများကို ချီးမြှင့်တော်မူမည်သာဖြစ်သည်။

ထို့ပြင်တစ်ဝ သိထားအပ်သည်မှာ မည်သူမဆို မိမိအကျိုးအတွက် ကြိုးပမ်းဆောင်ရွက်သည်သာ၊ မိမိအကျိုးအတွက် အနစ်နာခံသည်သာ။ ယင်းသို့ ကြိုးပမ်းဆောင်ရွက်ခြင်း၊ အနစ်နာခံခြင်းဖြင့် အလ္လာဟ်အရှင်မြတ်၌ မည်သို့မျှအကျိုးမရှိ၊ ရှိရန်လည်းမလို။ အဘယ်ကြောင့်ဆိုသော် ထိုအရှင်မြတ်သည် လိုလားတောင့်တခြင်း လုံးဝ ကင်းမဲ့တော်မူသောအရှင် ဖြစ်တော်မူသည်။ သို့ဖြစ်ရာ မွတ်စ်လင်မ်တစ်ဦးသည် မိမိအကျိုးအတွက် ကြိုးပမ်းရာတွင် ဒုက္ခတွေ့ကြုံပါက အပြုံးနှင့် ရဲရဲရင်ဆိုင်ရမည်သာ ဒုက္ခကိုပင် သုခဟုထင်ရမည်သာ။

ထို့ပြင်တစ်ဝ အီမာန် သက်ဝင်ယုံကြည်၍ ကောင်းမြတ်သော အကျင့်သီလများကို ဆောက်တည်သော ပုဂ္ဂိုလ်များအား အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့၏ အပြစ်များကို ဖုံးဖိပေးတော်မူမည်သာမက ၎င်းတို့ ကျင့်မှုခဲ့ကြသော ကောင်းမှုများ၏ ကုသိုလ်အကျိုးများကိုလည်း ထိုက်တန်သည်ထက်ပင် အတိုင်းမသိ ပိုမိုချီးမြှင့်တော်မူဦးမည်ဖြစ်သည်။ သို့ဖြစ်ပေရာ ဤပစ္စက္ခတွင် အလ္လာဟ်အရှင်မြတ်၏ လမ်းတော်၌ ဒုက္ခကြီးငယ် ခံစားခဲ့ကြရသော မွတ်စ်လင်မ်များသည် အလ္လာဟ်အရှင်မြတ်နှင့် တွေ့ဆုံကြရသည့်အခါ သောရန်ခပ်သိမ်း ကင်းငြိမ်း၍ ဝမ်းသာမဆုံး ဖြစ်ကြရပေသည်။ ကြည့်-ကုရ်အာန် (၃၅:၃၄-၃၅)။ ဤကား အလ္လာဟ်အရှင်မြတ်၏ လမ်းတော်၌ အနစ်နာခံခဲ့ခြင်း၏ အကျိုးပင်။ [ထာနဝီကို မှီးသည်]။

၈။ အမှန်စင်စစ် ငါအရှင်မြတ်သည် လူသားအား (ဤသို့)အမိန့်ပေးတော်မူ၏။ အသင်သည် မိမိ၏ မိဘနှစ်ပါးတို့အား ကောင်းစွာပြုစုရမည်။ သို့ရာတွင် အကယ်၍အသင်၌ အသိပညာ (သက်သေအထောက် အထား) မည်သည့်တစ်စုံတစ်ရာမျှမရှိသော အရာကို အသင့်အား ငါအရှင်မြတ်နှင့် တွဲဖက်နိုင်းယှဉ်ကိုးကွယ် ရန် ထိုမိဘနှစ်ပါးကကြိုးပမ်းအားထုတ်ခဲ့ကြလျှင် အသင်သည် (ယင်းတွဲဖက် ကိုးကွယ်မှုနှင့်စပ်လျဉ်း၍) ထိုမိဘနှစ်ပါး၏ စကားကို မလိုက်နာလေနှင့်။ ⁽¹⁾

အသင်တို့အားလုံးသည် ငါအရှင်မြတ် အထံ တော်သို့ ပြန်လာကြရပေမည်။ ထိုအခါ ငါအရှင်မြတ် သည် အသင်တို့အား အသင်တို့ ပြုမူလျက်ရှိခဲ့ကြကုန် သော အမှုကိစ္စ(အလုံးစုံ)တို့နှင့်စပ်လျဉ်း၍ အသိ ပေးတော်မူမည်။

وَوَصَّيْنَا الْإِنسَانَ بِوَالِدَيْهِ حُسْنًا ۖ وَإِن جَاهَدَاكَ لِتُشْرِكَ بِي مَا لَيْسَ لَكَ بِهِ عِلْمٌ فَلَا تُطِعْهُمَا ۚ إِلَيَّ مَرْجِعُكُمْ فَأُنَبِّئُكُم بِمَا كُنتُمْ تَعْمَلُونَ ⑧

---

(၁) **မိဘကိုင်ငဲ့ထောက်ကာ သာသနာကို မဆန့်ကျင်ရာ။**

ဤပစ္စက္ခတွင် မိဘနှစ်ပါးနှင့် ပတ်သက်၍ ထမ်းဆောင်ရမည့် တာဝန်သည်အကြီးဆုံးပင်။ သို့ပင်တစေ အလ္လာဟ်အရှင်မြတ်နှင့် ပတ်သက်၍ ထမ်းဆောင်ရမည့် တာဝန်ကား ထိုထက်ပင် ကြီးလေးလှပေသည်။ သို့ဖြစ်ရာ သားသမီးများသည် မိဘအား ငဲ့ညှာထောက်ထားကာ သာသနာကို မစွန့်လွှတ်ကြရာ၊ သာသနာရေးနှင့် ဆန့်ကျင်သည်များကို မကျူးလွန်ရာ။

တမန်တော်မြတ်၏ ဩဝါဒတော်များတွင် လာရှိသည်မှာ သာဝကကြီး စသ်ဒ်အစ်ဗ်နအဗီဝါက္ကာဆ်၏ မိခင်ဟမ်နတ်မှာ (မုရှ်ရိကဟ်) တွဲဖက်ကိုးကွယ်သူ ဖြစ်ခဲ့၏။ ဟမ်နဟ်သည် မိမိ၏သား အစ္စလာမ်ကို သက်ဝင်ယုံကြည်သွားသည့် သတင်းကို ကြားသိသောအခါ ‘ငါသည် မိမိ၏သား အစ္စလာမ်ကို မစွန့်လွှတ်သမျှ ကာလပတ်လုံး မည်သည့် အစာအာဟာရကိုမျှ စားသောက်မည်မဟုတ်၊ မည်သည့် အရိပ်အာဝါသအောက်တွင်မျှ နေမည်မဟုတ်ဟု သန္နိဋ္ဌာန်ချ၍ အစာငတ်ခံပြီး ဆန္ဒပြခဲ့၏။ သို့ အစာငတ်ခံ ဆန္ဒပြခဲ့သည့်အတွက် ဟမ်နဟ်မှာ အားအင်ဆုတ်ယုတ်ပြီး လွန်စွာ ပိန်ချုံးသွားခဲ့၏။ မိတ်ဆွေများသည် ဟမ်နဟ် သေဆုံးသွားမည်ကို စိုးရိမ်ကြသည့်အတွက် အတင်းအဓမ္မ ပါးစပ်ကိုဖြဲ၍ အာဟာရ ထည့်သွင်းပေးခဲ့ကြရ၏။ ယင်းသို့မိခင်က အကျပ်ကိုင်သော်လည်း သာဝကကြီး စသ်ဒ်သည် အစ္စလာမ်မှုစိုးစဉ်းမျှပင် ယိမ်းယိုင်မသွားခဲ့ပေ။ ဤသည့်ဖြစ်ရပ်နှင့် စပ်လျဉ်း၍ ဤအာယတ်တော် ကျရောက်လာခဲ့ပေသည်။

ဤသို့ အစ္စလာမ်နှင့် ဆန့်ကျင်သည့် အမှုကိုပြုရန် မိဘများက အကျပ်ကိုင်ခြင်းမှာလည်း စမ်းသပ်မှု တစ်ရပ်ပင်။ အစ္စလာမ်နှင့် ဆင့်ကျင်သည့်အမှုကို ကျူးလွန်ရန် ကျေးဇူးရှင် မိဘများကပင် ➤➤

وَالَّذِيْنَ اٰمَنُوْا وَعَمِلُوا الصّٰلِحٰتِ لَنُدْخِلَنَّهُمْ فِي الصّٰلِحِيْنَ ⑨

၉။ ၎င်းပြင် 'အီမာန်' သက်ဝင်ယုံကြည်ပြီး ကောင်းမြတ်သော အကျင့်သီလများကို ကျင့်မူဆောက်တည်ခဲ့ကြကုန်သောသူတို့အား ဧကန်စင်စစ် ငါအရှင်မြတ်သည် သူမွန်သူမြတ်တို့တွင် ဝင်ရောက်စေတော်မူအံ့သတည်း။

وَمِنَ النَّاسِ مَنْ يَّقُوْلُ اٰمَنَّا بِاللّٰهِ فَاِذَآ اُوْذِيَ فِي اللّٰهِ جَعَلَ فِتْنَةَ النَّاسِ كَعَذَابِ اللّٰهِ ۗ وَلَىِٕنْ جَاۗءَ نَصْرٌ مِّنْ رَّبِّكَ لَيَقُوْلُنَّ اِنَّا كُنَّا مَعَكُمْ ۗ اَوَلَيْسَ اللّٰهُ بِاَعْلَمَ بِمَا فِيْ صُدُوْرِ الْعٰلَمِيْنَ ⑩

၁၀။ လူတို့တွင်'ကျွန်ုပ်တို့သည် အလ္လာဟ်အရှင်မြတ်အား သက်ဝင်ယုံကြည်ခဲ့ကြပါပြီ' ဟု ပြောဆိုသူများလည်း ရှိကြပေသည်။ သို့ရာတွင် ၎င်းတို့သည် အလ္လာဟ်အရှင်မြတ်(၏လမ်းတော်၌) ဒုက္ခပေးခြင်းကို ခံခဲ့ကြရသောအခါ ၎င်းတို့သည် လူတို့၏ဒုက္ခပေးမှုကို အလ္လာဟ်အရှင်မြတ်၏ ပြစ်ဒဏ်ကဲ့သို့ပင် ထင်မှတ်ယူဆကြလေသည်။

သို့ရာတွင် အကယ်၍ အသင့်အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်အထံတော်မှ ကူညီစောင်မမှု တစ်စုံတစ်ရာ ရောက်ရှိလာခဲ့သည်ရှိသော် ၎င်းတို့က 'ကျွန်ုပ်တို့သည်လည်း ဧကန်အမှန် အသင်တို့နှင့် အတူရှိခဲ့ကြပေသည်' ဟု မုချဧကန် ပြောဆိုကြကုန်၏။အလ္လာဟ်အရှင်မြတ်သည် ကမ္ဘာသူကမ္ဘာသားခပ်သိမ်းတို့၏ စိတ်နှလုံးများအတွင်း ရှိသည်တို့ကို အသိတော်မူဆုံးပင်မဟုတ်ပါလော။ ၁

---

➤➤ ခိုင်းစေကြလင့်ကစား မွတ်စ်လင်မ်များသည် မကျူးလွန်ကြရာ။ အစ္စလာမ်နှင့် ဆန့်ကျင်သည့် ကိစ္စများတွင် မိဘ၂ပါး၏ စကားကိုပင် နားထောင်ရန် မလိုပေ။

(၁) **အီမာန်ယုံကြည်မှု မခိုင်မြဲသူများ။**

လူတို့တွင်အချို့ ဤသို့သောသူများလည်းရှိ၏။ ၎င်းတို့က ကျွန်ုပ်တို့သည် အီမာန် ယုံကြည်ကြပါသည် ဟု ဆိုကြ၏။ အမှန်မှာ အီမာန်ယုံကြည်မှုသည် ၎င်းတို့၏ စိတ်နှလုံးများတွင် မခိုင်မြဲပေ။ ထိုသို့သောသူများသည် အလ္လာဟ်အရှင်မြတ်၏ လမ်းတော်၌ တစ်စုံတစ်ရာ ဒုက္ခဖြစ်ကြလျှင် ယင်းသည့် သာမန်ဒုက္ခကိုပင် အလ္လာဟ်အရှင်မြတ်၏ ပြစ်ဒဏ်ကြီးသဖွယ် ထင်မှတ်ကာ ယခင်ကမိမိတို့ အီမာန်ယုံကြည်ခဲ့သည်ကိုပင် မှားယွင်းကြောင်း ဝန်ခံကြ၏။ သို့တည်းမဟုတ် အီမာန် မယုံကြည်ခဲ့ကြပါဟူ၍ပင် ငြင်းဆိုကြ၏။ ဤကား မွတ်စ်လင်မ်တို့ အရေးမလှသည့် အချိန်တွင် အီမာန်မခိုင်မြဲသူတို့၏ ဖြစ်အင်ပင်။ 

وَلَيَعْلَمَنَّ اللّٰهُ الَّذِيْنَ
اٰمَنُوْا وَلَيَعْلَمَنَّ
الْمُنٰفِقِيْنَ ⑪

၁၁။ ဧကန်မလွဲအလ္လာဟ်အရှင်မြတ်သည် မုအ်မင်န် သက်ဝင်ယုံကြည်သူတို့အား ခွဲခြားသိမြင်အောင် ပြုလုပ်တော်မူမည်။ ထိုနည်းတူစွာ ထိုအရှင်မြတ်သည် ‘မုနာဖစ်က်’ အယောင်ဆောင်တို့အားလည်း ခွဲခြားသိမြင်အောင် ပြုလုပ်တော်မူအံ့သတည်း။

وَقَالَ الَّذِيْنَ كَفَرُوْا لِلَّذِيْنَ
اٰمَنُوا اتَّبِعُوْا سَبِيْلَنَا
وَلْنَحْمِلْ خَطٰيٰكُمْ ۗ وَمَا هُمْ
بِحٰمِلِيْنَ مِنْ خَطٰيٰهُمْ
مِّنْ شَيْءٍ ۗ اِنَّهُمْ لَكٰذِبُوْنَ ⑫

၁၂။ စင်စစ် ‘ကာဖိရ်’ သွေဖည်ငြင်းပယ်သောသူတို့က ‘မုအ်မင်န်’ သက်ဝင်ယုံကြည်သောသူတို့အား *‘အသင်တို့သည် ကျွန်ုပ်တို့၏ လမ်းစဉ်လိုက်နာကြလေကုန်၊ ကျွန်ုပ်တို့သည် အသင်တို့၏ ပြစ်မှုများကို ထမ်းရွက်ကြမည်’* [၁] ဟု ဆိုကြကုန်၏။ စင်စစ်သော်ကား ၎င်းတို့သည်ထိုမုအ်မင်န် သက်ဝင်ယုံကြည်သူတို့၏ပြစ်မှုများအနက်မှ အနည်းငယ်(သောပြစ်မှု) ကိုမျှပင် ထမ်းရွက်နိုင်ကြမည့် သူများမဟုတ်ပေ။ စင်စစ်ဧကန် ၎င်းတို့သည် မုသာဝါဒီ များပင် ဖြစ်ကြကုန်၏။

---

➢➢ တစ်ဖန် ၎င်းတို့သည် မွတ်စ်လင်မ်တို့ အရေးသာလာကြသည်ကို တွေ့မြင်ကြရပြန်သော်၊ သို့တည်းမဟုတ် ထိုသို့အီမာန်မခိုင်မြဲသော သူများသည် ကာဖိရ်များနှင့် ပူးပေါင်းတိုက်ခိုက်နေကြစဉ် မွတ်စ်လင်မ်တို့၏ လက်တွင်းသို့ သုံ့ပန်းအဖြစ် မိလာကြသော် ‘ကျွန်ုပ်တို့သည် အသင်တို့နှင့် အတူတူ ဖြစ်ပါသည်၊ ညီနောင်များဖြစ်ကြပါသည်။ ကာဖိရ်များနှင့် ပေါင်းနေခြင်းမှာ အခြေအနေအရသာ ဖြစ်ပါသည်’ စသည်ဖြင့် နှုတ်ချိုသွေးကြ၏၊ ခယ ဝယ ပြုကြ၏၊ ချော့မော့ကြ၏၊ မြှောက်ပင့် လိမ်လည်ကြ၏။ ဤကား မွတ်စ်လင်မ်တို့ အရေးသာသည့်အချိန်တွင် အီမာန်မခိုင်မြဲသူတို့၏ ဖြစ်အင်ပင်။ ထိုသူများသည် မွတ်စ်လင်မ်တို့အား နှုတ်ဖြင့် အသို့ပင် နှုတ်ချိုသွေးနေကြသော်လည်း ကမ္ဘာသူကမ္ဘာသားတို့၏ စိတ်နှလုံးများတွင် ရှိသည်များကိုပင် အကြွင်းမဲ့သိတော်မူသော အလ္လာဟ်အရှင်မြတ်အားမှု မိမိတို့၏ စိတ်တွင်းသဘောကို အသို့လျှင် ဖုံးကွယ်ထား နိုင်ကြအံ့နည်း။

(၁) **ကာဖိရ်များ၏ ဖြားယောင်းမှုတစ်ရပ်။**

ကာဖိရ်များက မွတ်စ်လင်မ်တို့အား ‘အသင်တို့သည် အစ္စလာမ်ကို စွန့်ပယ်ပြီး ငါတို့နှင့် ပြန်လည်ပူးပေါင်းကြ၊ ငါတို့၏လမ်းစဉ်ကို လိုက်နာကြ၊ အသင်တို့ ဒုက္ခအပေါင်းမှ လွတ်မြောက်ကြမည်။ အသင်တို့သည် အကြောင်းမဲ့ အဘယ့်ကြောင့် ဒုက္ခခံနေကြသနည်း။ ဤသို့ ပြုလုပ်ခြင်းမှာ အပြစ်ရှိသည်၊ အလ္လာဟ်အရှင်မြတ်အထံတော်၌ အရေးယူခြင်း ခံကြရမည်ကို စိုးရိမ်ကြလျှင် ထိုအရှင်မြတ်၏ ရှေ့တော်မှောက်တွင် ငါတို့ကဤသို့ အကြံပေးကြောင်း ထုတ်ဖော်လျှောက်ထားကြ။ အသင်တို့၌ မည်သို့မျှ တာဝန်မရှိစေရ။ အသင်တို့၏ အပြစ်များကို ခံကြမည်’ဟု သွေးဆောင် ဖြားယောင်းခဲ့ကြ၏။ ➢➢

وَلَيَحْمِلُنَّ أَثْقَالَهُمْ وَأَثْقَالًا مَّعَ أَثْقَالِهِمْ ۖ وَلَيُسْأَلُنَّ يَوْمَ الْقِيَامَةِ عَمَّا كَانُوا يَفْتَرُونَ ﴿١٣﴾

၁၃။ သို့ရာတွင် မုချစင်စစ် ၎င်းတို့သည် မိမိတို့၏ဝန်များကိုလည်းကောင်း၊ မိမိတို့၏ ဝန်များနှင့်အတူ အခြားသော ဝန်များကိုလည်းကောင်း၊ ထမ်းဆောင်ကြပေမည်။ ထိုမှတပါး မချွတ်ကေန် ၎င်းတို့သည် 'ကိယာမတ်' ရှင်ပြန်ထမည့်နေ့တွင် မိမိတို့ လီဆယ်ဖန်တီးခဲ့ကြကုန်သောအရာများနှင့်စပ်လျဉ်း၍ စစ်ဆေးမေးမြန်းခြင်းကိုလည်း ခံကြရကုန်အံ့သတည်း။

وَلَقَدْ أَرْسَلْنَا نُوحًا إِلَىٰ قَوْمِهِ فَلَبِثَ فِيهِمْ أَلْفَ سَنَةٍ إِلَّا خَمْسِينَ عَامًا فَأَخَذَهُمُ الطُّوفَانُ وَهُمْ ظَالِمُونَ ﴿١٤﴾

၁၄။ ထို့ပြင် မလွဲကေန် ငါအရှင်မြတ်သည် 'နူဟ်' အား ၎င်း၏အမျိုးသားတို့ထံ (ရစူလ်တမန်တော်အဖြစ်) စေလွှတ်တော်မူခဲ့ရာ ထိုနူဟ်သည် ၎င်းတို့တွင် နှစ်ပေါင်းကိုးရာ ငါးဆယ်တိုင်တိုင် နေထိုင်ခဲ့လေ၏။ ထို့နောက် ရေလွှမ်းမိုးခြင်း(ပြစ်ဒဏ်)သည် ၎င်းအမျိုးသားတို့အား ဖမ်းဆီးကွပ်မျက်ခဲ့လေ၏။ [၁] အမှန်သော်ကား ထိုအမျိုးသားတို့မှာ မတရားသောသူများပင် ဖြစ်ခဲ့ကြကုန်၏။

➤➤ အမှန်မှာ ယင်းသို့ပြောဆိုသော ကာဖိရ်များသည် လူလိမ်များသာ ဖြစ်ကြပေသည်။ ၎င်းတို့သည် သူတစ်ပါး၏ဝန်ပိုးဝန်ထုပ်များကို စိုးစဉ်းမျှပင် ပေါ့ပါးအောင် လုပ်နိုင်ကြသည်မဟုတ်။ သူတစ်ပါးအား ယင်းသို့ သွေးဆောင်ဖြားယောင်းခြင်းဖြင့် ၎င်းတို့သည် မိမိတို့၏ ဝန်ပိုးဝန်ထုပ်များကို လေးသည်ထက်လေးအောင် ပြုလုပ်နေကြခြင်းသာ ဖြစ်သည်။ ကာဖိရ်များသည် မွတ်စ်လင်မ်တို့အား မိမိတို့ဘက်သို့ ပြန်လည် ဆွဲဆောင်နိုင်ရန်အတွက် အမျိုးမျိုး ဒုက္ခပေးခဲ့ကြ၏၊ အမျိုးမျိုး သွေးဆောင် ဖြားယောင်းခဲ့ကြ၏။ ခြောက်ခဲ့ကြ၏၊ မြှောက်ခဲ့ကြ၏။ သို့တစေလည်း အီမာန်ယုံကြည်မှု ရင့်ကျက်သော မွတ်စ်လင်မ်များသည် ဒုက္ခကြီးငယ် အပေါင်းတို့ကို အပြုံးနှင့် ရဲရဲရင်ဆိုင်ကာ အစ္စလာမ်အပေါ်၌ မယိမ်းမယိုင် ကျောက်တိုင်ပမာ ကြံ့ခိုင်တည်ကြည်စွာ ရပ်တည်နေခဲ့ကြပေသည်။

(၁) **တမန်တော် နူဟ်။**

ဆဟာဗီ သာဝကကြီး အစ်ဗ်နအဗ္ဗာစ်ထံမှတစ်ဆင့် ကြားသိရသည်မှာ 'တမန်တော်နူဟ် (အလိုင်ဟစ္စလာမ်)သည် သက်တော်(၄၀)တွင် နဗီတမန်တော်ဂုဏ်ဖြင့် ချီးမြှင့်တော်မူခြင်း ခံခဲ့ရ၏။ နှစ်ပေါင်း(၉၅၀)တိုင်တိုင် တရားဟောကြားခဲ့၏။ ထို့နောက် ရေဘေးကြီး ဆိုက်ရောက်လာခဲ့၏။ တမန်တော်နူဟ်သည် ရေဘေးကြီး ဆိုက်ရောက်လာပြီး နောက်တွင်လည်း အနှစ်(၆၀) တိုင် အသက်ရှင်လျက်ရှိခဲ့၏' ဤစာရင်းအရ တမန်တော်နူဟ်၏ အသက်မှာ(၁၀၅၀)ဖြစ်၏။ ထာနဝီ၊

တမန်တော်နူဟ်၏ သဘော်အကြောင်း အကြိမ်ကြိမ် ပါရှိခဲ့ချေပြီ။ ကြည့်-ကုရ်အာန် (၃း၃၂။ ၄း၁၆၃။ ၆း၈၅။ ၇း၅၉။ ၉း၇၀။ ၁၁း၂၅-၄၉)။

فَأَنجَيْنَٰهُ وَأَصْحَٰبَ ٱلسَّفِينَةِ وَجَعَلْنَٰهَآ ءَايَةً لِّلْعَٰلَمِينَ ⑮

၁၅။ ထို့နောက် ငါအရှင်မြတ်သည် ထို နူဟ်' အားလည်းကောင်း၊ သင်္ဘော၌ ပါရှိခဲ့သောသူတို့အား လည်းကောင်း၊ ကယ်တင်တော်မူခဲ့၏။ ထိုမှတပါး ငါအရှင်မြတ်သည် ထိုသင်္ဘောကို ကမ္ဘာသူကမ္ဘာသား ခပ်သိမ်းတို့အဖို့ သက်သေလက္ခဏာတစ်ရပ် ပြုလုပ်တော်မူခဲ့ပေသတည်း။

وَإِبْرَٰهِيمَ إِذْ قَالَ لِقَوْمِهِ ٱعْبُدُوا۟ ٱللَّهَ وَٱتَّقُوهُ ۖ ذَٰلِكُمْ خَيْرٌ لَّكُمْ إِن كُنتُمْ تَعْلَمُونَ ⑯

၁၆။ ထိုမှတပါး အီဗ်ရာဟီမ်အား(လည်း ငါအရှင်မြတ်သည် ရစူလ်တမန်တော်အဖြစ် စေလွှတ်တော်မူခဲ့၏။) အကြင်အခါဝယ် ထိုအီဗ်ရာဟီမ်သည် မိမိအမျိုးသားတို့အား (ဤသို့) ပြောကြားခဲ့လေ၏။ (အချင်းတို့၊) အသင်တို့သည် အလ္လာဟ်အရှင်မြတ်အား ဆည်းကပ်ကိုးကွယ်ကြလေကုန်။ ၎င်းပြင် အသင်တို့သည်ထိုအရှင်မြတ်အား ခန့်ညား ကြောက်ရွံ့ကြလေကုန်။ အကယ်၍ အသင်တို့သည် သိရှိကြလေသော် ဤသည် အသင်တို့အဖို့ အကောင်းဆုံးပင် ဖြစ်ပေသည်။

إِنَّمَا تَعْبُدُونَ مِن دُونِ ٱللَّهِ أَوْثَٰنًا وَتَخْلُقُونَ إِفْكًا ۚ إِنَّ ٱلَّذِينَ تَعْبُدُونَ مِن دُونِ ٱللَّهِ لَا يَمْلِكُونَ لَكُمْ رِزْقًا فَٱبْتَغُوا۟ عِندَ ٱللَّهِ ٱلرِّزْقَ وَٱعْبُدُوهُ وَٱشْكُرُوا۟ لَهُۥٓ ۖ

၁၇။ အသင်တို့သည် အလ္လာဟ်အရှင်မြတ်အား စွန့်၍ ရုပ်တုများကိုသာလျှင် ဆည်းကပ်ကိုးကွယ်ကြကုန်၏။ ထိုမှတပါး အသင်တို့သည် မုသား (အယူဝါဒ)ကို လီဆယ်ဖန်တီးကြကုန်၏။ စင်စစ် အလ္လာဟ်အရှင်မြတ်အားစွန့်၍ အသင်တို့သည် ဆည်းကပ်ကိုးကွယ်လျက် ရှိကြသည်တို့မှာ အသင်တို့၏ စားနပ်ရိက္ခာကို လုံးဝပိုင်ဆိုင်ကြသည် မဟုတ်ပေ။ သို့ဖြစ်ပေရာ အသင်တို့သည် (မိမိတို့အဖို့) စားနပ်ရိက္ခာကို အလ္လာဟ်အရှင်မြတ်အထံတော်၌ ရှာဖွေကြလေကုန်။ ထိုမှတပါး အသင်တို့သည် ထိုအရှင်မြတ်အားသာလျှင် ခဝပ်ကိုးကွယ်ဆည်းကပ်ကြလေကုန်။

إِلَيْهِ تُرْجَعُونَ ﴿١٧﴾

ထိုမှတပါး အသင်တို့သည် ထို အရှင်မြတ်၏ ကျေးဇူးတော်ကို သိတတ်ကြလေကုန်။ ထိုမှတပါး အသင်တို့အားလုံးတို့သည် ထိုအရှင်မြတ်အထံတော်သို့သာလျှင် ပြန်သွားကြရပေမည်။

وَإِن تُكَذِّبُوا فَقَدْ كَذَّبَ أُمَمٌ مِّن قَبْلِكُمْ ۖ وَمَا عَلَى الرَّسُولِ إِلَّا الْبَلَاغُ الْمُبِينُ ﴿١٨﴾

၁၈။ သို့ရာတွင် အကယ်၍ အသင်တို့သည် (ငါ့အား)မဟုတ်မမှန်ဟူ၍ စွပ်စွဲငြင်းပယ်ကြလျှင် အသင်တို့အလျင် ရှိခဲ့ကြလေသော အုပ်စုများကလည်း (မိမိတို့၏ နဗီတမန်တော်များအား) မဟုတ်မမှန်ဟူ၍ပင် စွပ်စွဲငြင်းပယ်ခဲ့ကြကုန်၏။ စင်စစ်မှာမူကား ရစူလ်တမန်တော်များအပေါ်၌ (အလ္လာဟ်အရှင်မြတ်၏ အမိန့်ပညတ်တော်များကို လူသားတို့ထံ) ရှင်းလင်းထင်ရှားစွာပို့ဆောင်ရန်သာလျှင် တာဝန်ရှိပေသတည်း။

أَوَلَمْ يَرَوْا كَيْفَ يُبْدِئُ اللَّهُ الْخَلْقَ ثُمَّ يُعِيدُهُ ۚ إِنَّ ذَٰلِكَ عَلَى اللَّهِ يَسِيرٌ ﴿١٩﴾

၁၉။ အလ္လာဟ်အရှင်မြတ်သည် အဖန်ဆင်းခံတို့ကို မည်သို့ စတင်ဖန်ဆင်းတော်မူသည်ကို ၎င်းတို့သည် မတွေ့မမြင် မဆင်ခြင်ခဲ့ကြလေသလော။ ထို့နောက် တစ်ဖန် ထိုအရှင်မြတ်သည်ပင် ထိုအဖန်ဆင်းခံတို့ကို ထပ်မံ၍ ဖန်ဆင်းတော်မူမည်။ ဧကန်အမှန် ဤသည် အလ္လာဟ်အရှင်မြတ်အဖို့ လွန်စွာ လွယ်ကူလှပေသည်။

قُلْ سِيرُوا فِي الْأَرْضِ فَانظُرُوا كَيْفَ بَدَأَ الْخَلْقَ ۚ ثُمَّ اللَّهُ يُنشِئُ النَّشْأَةَ الْآخِرَةَ ۚ إِنَّ اللَّهَ عَلَىٰ كُلِّ شَيْءٍ قَدِيرٌ ﴿٢٠﴾

၂၀။ (အို–နဗီတမန်တော်၊) အသင်သည် ပြောကြားပါလေ။ (အချင်းတို့၊) အသင်တို့သည် ကမ္ဘာမြေဝယ် လှည့်လည်သွားလာ၍ထိုအရှင်မြတ်သည် အဖန်ဆင်းခံတို့ကို မည်သို့ စတင်ဖန်ဆင်းတော်မူသည်ကို ကြည့်ရှုလေ့လာကြလေကုန်။ ထို့နောက်တစ်ဖန်အလ္လာဟ်အရှင်မြတ်သည် (ထိုအဖန်ဆင်းခံတို့အား) နောက်တစ်ကြိမ်ထပ်မံ၍ပင်ဖန်ဆင်းတော်မူမည်။စင်စစ်ဧကန်အလ္လာဟ်အရှင်မြတ်သည် အရာခပ်သိမ်းတို့ကို စွမ်းဆောင်နိုင်တော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူပေသည်။

يُعَذِّبُ مَنۡ يَّشَآءُ وَيَرۡحَمُ مَنۡ يَّشَآءُ ۚ وَاِلَيۡهِ تُقۡلَبُوۡنَ ﴿٢١﴾

၂၁။ ထိုအရှင်မြတ်သည် မိမိအလိုရှိတော်မူသောသူအား ပြစ်ဒဏ်ပေးတော်မူမည်။ ထိုနည်းတူစွာ ထိုအရှင်မြတ်သည် မိမိအလိုရှိတော်မူသော သူအား သနားကြင်နာတော်မူပေမည်။ ၎င်းပြင် အသင်တို့အားလုံးသည် ထိုအရှင်မြတ်အထံတော်သို့ပင် ပြန်သွားကြရပေမည်။

وَمَاۤ اَنۡتُمۡ بِمُعۡجِزِيۡنَ فِى الۡاَرۡضِ وَلَا فِى السَّمَآءِ ۫ وَمَا لَـكُمۡ مِّنۡ دُوۡنِ اللّٰهِ مِنۡ وَّلِىٍّ وَّلَا نَصِيۡرٍ ﴿٢٢﴾

၂၂။ စင်စစ်သော်ကား အသင်တို့သည် ကမ္ဘာမြေ၌လည်း (အလ္လာဟ်အရှင်မြတ်က မိမိတို့အား ပြစ်ဒဏ်ပေးတော်မူခြင်းကို) မစွမ်းဆောင်နိုင်လေအောင် ပြုနိုင်ကြသည် မဟုတ်ပေ။ မိုးကောင်းကင်၌လည်း ပြုနိုင်ကြသည်မဟုတ်ပေ။ ထိုမှတပါး အသင်တို့အဖို့ အလ္လာဟ်အရှင်မြတ်အပြင် ကိစ္စအဝဝကို ပြီးစီးအောင်ပြုလုပ်ပေးမည့်သူဟူ၍လည်းကောင်း၊ ကူညီစောင်မမည့်သူဟူ၍လည်းကောင်း၊ တစ်ဦးတစ်ယောက်မျှပင်မရှိချေ။

وَالَّذِيۡنَ كَفَرُوۡا بِاٰيٰتِ اللّٰهِ وَلِقَآئِهٖۤ اُولٰۤـئِكَ يَئِسُوۡا مِنۡ رَّحۡمَتِىۡ وَاُولٰۤـئِكَ لَهُمۡ عَذَابٌ اَلِيۡمٌ ﴿٢٣﴾

၂၃။ သို့ရာတွင် အလ္လာဟ်အရှင်မြတ်၏ သက်သေလက္ခဏာတော်များကိုလည်းကောင်း၊ ထိုအရှင်မြတ်နှင့်တွေ့ဆုံခြင်းကိုလည်းကောင်း ငြင်းပယ်ခဲ့ကြသောသူတို့သည်သာလျှင် ငါအရှင်မြတ်၏ ကရုဏာတော်ကိုမျှော်လင့်အားထားခြင်းကင်းမဲ့ကြပေမည်။ ၎င်းပြင် ထိုသူတို့၌သာလျှင် ပြင်းပြနာကျင်ဖွယ်ဖြစ်သော ပြစ်ဒဏ်သည် သက်ရောက်အံ့သတည်း။

فَمَا كَانَ جَوَابَ قَوۡمِهٖۤ اِلَّاۤ اَنۡ قَالُوا اقۡتُلُوۡهُ اَوۡ حَرِّقُوۡهُ فَاَنۡجٰىهُ اللّٰهُ مِنَ

၂၄။ ထိုအခါ ထိုအီဗ်ရာဟီမ်၏အမျိုးသားတို့မှာ 'အသင်တို့သည် ထိုအီဗ်ရာဟီမ်အား သတ်ပစ်ကြလေကုန်၊ သို့တည်းမဟုတ်အသင်တို့သည် ၎င်းအား မီးတင်ရှို့ကြလေကုန်'ဟု ပြောဆိုကြခြင်းမှတပါး အခြားမည်သည်ကိုမျှ အဖြေပေးနိုင်ခြင်းမရှိခဲ့ကြချေ။

النَّارِ ۚ إِنَّ فِي ذَٰلِكَ لَآيَاتٍ لِّقَوْمٍ يُؤْمِنُونَ ﴿٢٤﴾

သို့ဖြစ်ပေရာ ငါအရှင်မြတ်သည် ထိုအီဗ်ရာဟီမ်အား မီးမှ ကယ်ဆယ်တော်မူခဲ့လေသည်။ [၁] ဧကန်အမှန် ဤသည့်(ဖြစ်ရပ်)၌ သက်ဝင်ယုံကြည်ကုန်သော အမျိုးသားတို့အဖို့ သက်သေသာဓကများရှိပေသည်။ [၂]

وَقَالَ إِنَّمَا اتَّخَذْتُم مِّن دُونِ اللَّهِ أَوْثَانًا مَّوَدَّةَ بَيْنِكُمْ فِي الْحَيَاةِ الدُّنْيَا ۖ ثُمَّ يَوْمَ الْقِيَامَةِ يَكْفُرُ بَعْضُكُم بِبَعْضٍ وَيَلْعَنُ بَعْضُكُم بَعْضًا وَمَأْوَاكُمُ النَّارُ وَمَا لَكُم مِّن نَّاصِرِينَ ﴿٢٥﴾

၂၅။ ၎င်းပြင် ထိုအီဗ်ရာဟီမ်က (မိမိ၏ အမျိုးသားတို့အား) ပြောကြားခဲ့သေး၏။ အသင်တို့သည် ဤမျက်မှောက်လောကီဘဝ၌ မိမိတို့အချင်းချင်း မေတ္တာရှိကြသောကြောင့်သာလျှင် အလ္လာဟ်အရှင်မြတ်အား စွန့်၍ ရုပ်တုများကို ရွေးချယ်ပြုလုပ်ကြခြင်း ဖြစ်ပေသည်။ ထို့နောက် 'ကိယာမတ်' ရှင်ပြန်ထမည့်နေ့တွင်မူကား၊ အသင်တို့အချင်းချင်း အချို့က အချို့ကို ငြင်းပယ်ကြမည်။ အချင်းချင်း အချို့က အချို့ကို ကျိန်ဆဲကြပေမည်။ ၎င်းပြင် ငရဲသည် အသင်တို့၏ ခိုလှုံရာဌာန ဖြစ်မည်။ ထိုမှတပါး အသင်တို့အဖို့ ကူညီစောင်မအံ့သော သူများဟူ၍လည်း တစ်ဦးတစ်ယောက်မျှ ရှိလိမ့်မည် မဟုတ်ပေတကား။

---

(၁) **တမန်တော် အစ်ဗ်ရာဟီမ်နှင့်မီးပုံ။**

တမန်တော်အီဗ်ရာဟီမ် ဟောကြားသော တရားမမ္မ၊ တင်ပြသော သက်သေသာဓကများနှင့်စပ်လျဉ်း၍ ၎င်း၏အမျိုးသားများသည် မည်သို့မျှ ပြန်လည် မချေပနိုင်ကြသည့် အဆုံးတွင် တမန်တော်အီဗ်ရာဟီမ်အား မီးတင်ရှို့ရန် ကြိုးစားခဲ့ကြလေသည်။ သို့တစေလည်း တမန်တော် အီဗ်ရာဟီမ်သည် အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော် အဟုန်ကြောင့် မီးပုံအတွင်းမှ ဘေးမသီရန်မခဘဲ အေးချမ်းသာယာစွာ လွတ်မြောက်လာခဲ့ပေသည်။ ဤအကြောင်း ကုရ်အာန် (၂၁း၅၁–၇၀)တွင်ပါရှိသည်။ သက်ဆိုင်ရာ အဖွင့်များကိုလည်း အကျယ်ရေးသားခဲ့ပေပြီ။

(၂) **ဆင်ခြင်ဖွယ်ရာများ။**

တမန်တော်အီဗ်ရာဟီမ်၏ အတ္ထုပ္ပတ္တိကို စဉ်းစားဆင်ခြင်ပါက (တောင်ဟီး'ဒ်)တစ်ဆူတည်း ဖြစ်တော်မူသော အလ္လာဟ်အရှင်မြတ်အား ဆည်းကပ် ကိုးကွယ်ခြင်းသာလျှင် မှန်ကန်ကြောင်း၊ ကုဖ်ရ်၊ ရှရစ်ကဲ မိစ္ဆာမှုများသည် မှားယွင်းကြောင်း၊ တမန်တော် အီဗ်ရာဟီမ်သည် နဗီတမန်တော် အစစ်အမှန်ဖြစ်ကြောင်း၊ အလ္လာဟ်အရှင်မြတ်သည် အရာရာကို ပြုစွမ်းတော်မူနိုင်ကြောင်း၊ ထိုအရှင်မြတ်သည် မိမိအား ယုံကြည်မြတ်နိုးသော သူတော်စင်များအား ရန်သူများ၏ လက်တွင်းမှပင် အံ့ဖွယ်သရဲ ကယ်တင်တော်မူကြောင်း၊ အမှန်တရားကို လက်ခံနာယူကျင့်မူသော ပုဂ္ဂိုလ်များသည် နောက်ဆုံးတွင် အောင်မြင်ကြသည်သာ ဖြစ်ကြောင်း၊ ➤➤

فَاٰمَنَ لَهٗ لُوۡطٌ ۘ وَقَالَ اِنِّیۡ مُهَاجِرٌ اِلٰی رَبِّیۡ ؕ اِنَّهٗ هُوَ الۡعَزِیۡزُ الۡحَکِیۡمُ ﴿۲۶﴾

၂၆။ ထို့နောက် 'လူတ်' သည် ထိုအီဗ်ရာဟီမ်အား ယုံကြည် ထောက်ခံခဲ့လေ၏။ [၁] ထိုမှတပါး ထိုအီဗ်ရာဟီမ်က 'ကေန်မလွဲ ငါသည် နေရင်းအရပ်ဒေသကို စွန့်၍ ငါ့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်(ညွှန်တော်မူရာ)သို့ ထွက်ခွာသွားမည်။ မလွဲကေန် ထိုအရှင်မြတ်သည်ပင်လျှင် တန်ခိုးတော်ဖြင့် လွှမ်းမိုးတော်မူသောအရှင်၊ ဆင်ခြင်တုံတရားနှင့် ပြည့်စုံတော်မူသောအရှင်၊ ဖြစ်တော်မူပေသည်' ဟု ပြောဆိုခဲ့လေ၏။

وَوَهَبۡنَا لَهٗۤ اِسۡحٰقَ وَیَعۡقُوۡبَ وَجَعَلۡنَا فِیۡ ذُرِّیَّتِهِ النُّبُوَّةَ وَالۡکِتٰبَ وَاٰتَیۡنٰهُ اَجۡرَهٗ فِی الدُّنۡیَا ۚ وَاِنَّهٗ فِی الۡاٰخِرَةِ لَمِنَ الصّٰلِحِیۡنَ ﴿۲۷﴾

၂၇။ ထို့ပြင် ငါအရှင်မြတ်သည် ထိုအီဗ်ရာဟီမ်အား 'အစ်ဟာက်'ကိုလည်းကောင်း၊ 'ယအ်ကူဗ်' ကိုလည်းကောင်း၊ ချီးမြှင့်ပေးသနားတော်မူခဲ့၏။ ထို့ပြင် ငါအရှင်မြတ်သည် နဗီတမန်တော်ဖြစ်ခြင်းကို လည်းကောင်း၊ [၂] ကျမ်းဂန်ကိုလည်းကောင်း၊ထိုအင်ဗ်ရာဟီမ်၏ သားမြေးတို့၌တည်စေတော်မူခဲ့၏။ ထိုမှတပါး ငါအရှင်မြတ်သည် ထိုအီဗ်ရာဟီမ်အား ၎င်း၏အကျိုးကို ဤပစ္စက္ခဘဝတွင်(လည်း) ချီးမြှင့်ပေးသနားတော်မူခဲ့၏။ ထိုမှတပါး တမလွန်ဘဝ၌လည်း ထိုအီဗ်ရာဟီမ်သည်သူမွန်သူမြတ်တို့အနက်မှပင်ဖြစ်ပေအံ့သတည်း၊[၃]

▶▶ အမှန်တရားကို သွေဖည်ဆန့်ကျင်သော ပုဂ္ဂိုလ်များမှာမူ နောက်ဆုံးတွင် ဆုံးရှုံးပျက်စီးကြရသည်သာ ဖြစ်ကြောင်း၊ ထို့ပြင်တစ်ဝ အရာရာ၌ရှိသော စွမ်းရည်သတ္တိသည်ပင် အလ္လာဟ်အရှင်မြတ်၏ အလိုတော်ရှိမှသာလျှင် စူးရှကြောင်း။ အလိုတော်မရှိပါက မီးသည်ပင် မလောင်ကျွမ်းနိုင်ကြောင်းများကို ကောင်းစွာသိရှိနိုင်ပေသည်။ ကြည့်-ထာနဝီ၊

(၁) တမန်တော်လူတ်သည် တမန်တော်အီဗ်ရာဟီမ်၏ တူတော်ဖြစ်သည်။ တမန်တော်အီဗ်ရာဟီမ်အား ၎င်း၏အမျိုးသားများအနက် တမန်တော်လူတ်မှအပ မည်သည့်ယောက်ျား တစ်ဦးတစ်ယောက်ကမျှ မယုံကြည်ခဲ့ပေ။ တမန်တော်လူတ်မှာမူ တမန်တော်အီဗ်ရာဟီမ်အား မဆိုင်းမတွဘဲ ကြည်ဖြူစွာ ယုံကြည်ခဲ့ပေသည်။

(၂) **တမန်တော် အီဗ်ရာဟီမ်၏သား မြေးတို့၏ ထူးခြားချက်။**

တမန်တော်အီဗ်ရာဟီမ် ပွင့်တော်မူပြီးနောက် အလ္လာဟ်အရှင်မြတ်သည် ကောင်းကင်ကျမ်းဂန်များနှင့် 'နူဗူဝါတ်' တမန်တော်၏ဂုဏ်ကို တမန်တော် အီဗ်ရာဟီမ်၏ သား မြေး မြစ်တို့အားသာလျှင် ချီးမြှင့်တော်▶▶

وَلُوطًا إِذْ قَالَ لِقَوْمِهِۦٓ إِنَّكُمْ لَتَأْتُونَ ٱلْفَٰحِشَةَ مَا سَبَقَكُم بِهَا مِنْ أَحَدٍ مِّنَ ٱلْعَٰلَمِينَ ۝٢٨

၂၈။ ထို့နည်းတူစွာ (ငါအရှင်မြတ်သည်) 'လူတ္တ်' အား(လည်း နဗီတမန်တော်အဖြစ် စေလွှတ်တော်မူခဲ့၏။) တစ်ရံရောအခါဝယ် ထို 'လူတ္တ်' က မိမိအမျိုးသားတို့အား (ဤသို့)ပြောကြားခဲ့လေ၏။ ဧကန်စင်စစ် အသင်တို့သည် ကမ္ဘာသူကမ္ဘာသား ခပ်သိမ်းအနက် မည်သူတစ်ဦးတစ်ယောက်မျှပင် အသင်တို့ အလျင် ကျူးလွန်ခဲ့ခြင်းမရှိသော အလွန့်အလွန် ဆိုးယုတ်လှစွာသောအမှုကို ကျူးလွန်ကြကုန်၏။

أَئِنَّكُمْ لَتَأْتُونَ ٱلرِّجَالَ وَتَقْطَعُونَ ٱلسَّبِيلَ وَتَأْتُونَ فِى نَادِيكُمُ ٱلْمُنكَرَ فَمَا كَانَ جَوَابَ قَوْمِهِۦٓ إِلَّآ

၂၉။ အသင်တို့သည် ယောကျ်ားများထံသို့ (ကာမဂုဏ် ခံစားရန်) လာကြလေသလော။ ၎င်းပြင် အသင်တို့သည် လမ်းကို ဖြတ်တောက်ကြလေသလော။ (တနည်း) အသင်တို့သည် လမ်း(တွင်) လုယက်တိုက်ခိုက်ကြလေသလော။ ထိုမှတပါး အသင်တို့သည် မိမိတို့၏ စုဝေးရာ၌ *စက်ဆုပ်ရွံရှာဖွယ် ကိစ္စများကို ကျူးလွန်ကြလေသလော။* ၁

---

➤➤ မူခဲ့ပေသည်။ တမန်တော်အီဗ်ရာဟီမ် ပွင့်တော်မူပြီးနောက် ပွင့်လေသမျှသောတမန်တော်အပေါင်းတို့မှာလည်း တမန်တော် အီဗ်ရာဟီမ်၏ သားမြေး၊ စဉ်ဆက်မှပင် ဖြစ်ခဲ့ကြသည်မှာ အထင်အရှားပင်။

ထို့အတွက်ကြောင့်ပင် တမန်တော် အစ်ဗ်ရာဟီမ်အား 'အဗုလ်အန်ဗိယာအီ' တမန်တော်များ၏ဖခင်ဟု ခေါ်ဆိုခြင်း ဖြစ်သည်။

**၃ တမန်တော် အီဗ်ရာဟီမ် နှစ်ဘဝကောင်းကျိုး။**

အလ္လာဟ်အရှင်မြတ်သည် တမန်တော်အီဗ်ရာဟီမ်အား ဤပစ္စက္ခ မျက်မှောက်ဘဝတွင်လည်း ဥစ္စာပစ္စည်း၊သား၊သမီး၊ ဂုဏ်အင်ဒြဗ်နှင့် အမြဲတစေ နာမည်ကောင်းများကို ချီးမြှင့်တော်မူခဲ့သည်။ နောင်တမလွန်ဘဝတွင်လည်း အမြင့်မြတ်ဆုံးသော သူတော်စင်များတွင် အပါအဝင် ဖြစ်စေတော်မူမည်။ ဤကား အလ္လာဟ်အရှင်မြတ်၏ လမ်းတော်၌ သူမတူအောင်သက်စွန့်ကြိုးပမ်း ဆောင်ရွက်ခဲ့ခြင်း၏အကျိုးပင်။

၁ တမန်တော်လူတ္တ် သွားရောက် တရားဓမ္မ ဟောကြားတော်မူခဲ့သော (SODOM) စုဒုမ် နယ်သားများသည် အဘယ်မျှ အရှက်ကင်းမဲ့လာခဲ့ကြသည်ဆိုသော် Sodomy (Homosexuality) [လိင်တူချင်း ကာမစပ်ယှက်မှုကို မိမိတို့ စုဝေးရာဌာနများ၌ပင် အထင်အရှား၊ ကျူး ပွန်နေခဲ့ကြလေသည်] သို့တည်းမဟုတ်၊ ၎င်းတို့သည် အဆိုပါ ယုတ်မာညစ်ညမ်းမှုအပြင် အခြားမြောက်မြားစွာသော ယုတ်မာညစ်ညမ်း ဆိုးသွမ်းမှုများကို သူငါ အများရှေ့မှောက်တွင် အထင်အရှား ကျူးလွန်နေခဲ့ကြပေသည်။

أَنْ قَالُوا ائْتِنَا بِعَذَابِ اللّٰهِ
إِنْ كُنْتَ مِنَ الصّٰدِقِيْنَ ﴿٢٩﴾

ထိုအခါ လူတ်၏ အမျိုးသားတို့က '(အို-လူတ်)၊ အကယ်၍ အသင်သည် သစ္စာဝါဒီတစ်ဦး ဖြစ်ခဲ့ပါမူ ကျွန်ုပ်တို့ထံအလ္လာဟ်အရှင်မြတ်၏ ပြစ်ဒဏ်ကို ဆောင်ယူခဲ့လော့' ဟု ပြောဆိုခဲ့ကြခြင်းမှတပါး အခြားမည်သည့်အဖြေမျှပင်ပေးနိုင်ခဲ့ကြသည်မရှိချေ။

قَالَ رَبِّ انْصُرْنِيْ عَلَى
الْقَوْمِ الْمُفْسِدِيْنَ ﴿٣٠﴾

၃၀။ ထိုရောအခါဝယ် ထို 'လူတ်' က 'အို-ကျွန်တော်မျိုးအား ဖန်ဆင်း မွေးမြူတော်မူသော အရှင်မြတ်၊ အရှင်မြတ်သည် ကျွန်တော်မျိုးအား ဖျက်ဆီးမှုကို ကျူးလွန်ပြုလုပ်ကြကုန်သောအမျိုးသားတို့အပေါ်၌ အောင်နိုင်မှုကို ပေးသနားတော်မူပါ'ဟု လျှောက်ထား ပန်ကြားခဲ့လေသတည်း။

وَلَمَّا جَآءَتْ رُسُلُنَآ
إِبْرٰهِيْمَ بِالْبُشْرٰى ۙ قَالُوْٓا
إِنَّا مُهْلِكُوْٓا أَهْلِ هٰذِهِ
الْقَرْيَةِ ۚ إِنَّ أَهْلَهَا كَانُوْا
ظٰلِمِيْنَ ۚ ﴿٣١﴾

၃၁။ ၎င်းပြင် ငါအရှင်မြတ်၏စေတမန်များသည် ဝမ်းမြောက်ဖွယ်သတင်းကို အီဗ်ရာဟီမ်၏ထံသို့ ဆောင်ကြဉ်းခဲ့ကြလေသောအခါ၊ ၎င်းတို့က 'ဧကန်မလွဲ ကျွန်ုပ်တို့သည် ဤမြို့ရွာသားတို့အား ဖျက်ဆီးမည့်သူများပင် ဖြစ်ကြပေသည်။ ဧကန်စင်စစ် ယင်းမြို့ရွာ၌ နေထိုင်သောသူတို့မှာ အလွန်တရာ ပြစ်မှုကျူးလွန်သူများပင် ဖြစ်ကြကုန်သည်' ဟု ပြောဆိုခဲ့ကြလေ၏။

قَالَ إِنَّ فِيْهَا لُوْطًا ۚ قَالُوْا
نَحْنُ أَعْلَمُ بِمَنْ فِيْهَا ۫
لَنُنَجِّيَنَّهُ وَأَهْلَهُ
إِلَّا امْرَأَتَهُ ۫ كَانَتْ
مِنَ الْغٰبِرِيْنَ ﴿٣٢﴾

၃၂။ (ထိုအခါ) ထိုအီဗ်ရာဟီမ်က ထိုမြို့ရွာ၌ (နဗီတမန်တော်) 'လူတ်' သည်(လည်း) ရှိနေပေသည် ဟု ပြောကြားခဲ့လေရာ ထိုစေတမန်တို့က ပြောဆိုဖြေကြားခဲ့သည်မှာ ထိုမြို့ရွာ၌ မည်သူတို့ နေထိုင်ကြသည်ကို ကျွန်ုပ်တို့သည် ကောင်းစွာ သိရှိကြပေသည်။ အမှန်ပင် ကျွန်ုပ်တို့သည် 'လူတ်' ၏ဇနီးမှအပ ထို 'လူတ်' နှင့်တကွ ၎င်း၏အိမ်သူအိမ်သားသက်ဆိုင်သူများကိုပါ ကယ်ဆယ်ကြပေမည်။

ထို('လူတ်')၏ဇနီးမှာမူကား ကျန်ရစ်သူတို့တွင် အပါ အဝင် ဖြစ်ပေမည်ဟု ပြောကြားခဲ့ကြကုန်၏။

وَلَمَّآ أَن جَآءَتْ رُسُلُنَا
لُوطًا سِيٓءَ بِهِمْ وَضَاقَ
بِهِمْ ذَرْعًا وَقَالُوا۟
لَا تَخَفْ وَلَا تَحْزَنْ ۖ
إِنَّا مُنَجُّوكَ وَأَهْلَكَ إِلَّا
ٱمْرَأَتَكَ كَانَتْ
مِنَ ٱلْغَٰبِرِينَ ٣٣

၃၃။ တစ်ဖန် ငါအရှင်မြတ်၏ စေတမန်တို့သည် 'လူတ်' ၏ထံသို့ရောက်ရှိ၍ လာခဲ့ကြလေသောအခါ ထို 'လူတ်' မှာ၎င်းတို့ကြောင့် စိတ်မချမ်းမြေ့ ဖြစ်ခဲ့ရသည့်ပြင်၊ ၎င်းတို့နှင့်ပက်သက်၍ လွန်စွာ စိတ်ကျဉ်းကျပ်မှုလည်း ဖြစ်ခဲ့လေ၏။ သို့ရာတွင် ထို စေတမန်တို့က (ဤသို့) ပြောဆို(နှစ်သိမ့်စေ)ခဲ့ကြလေသည်။

('အို-လူတ်'၊) အသင်သည် စိုးရိမ်ခြင်းလည်း မရှိပါလေနှင့်၊ ပူဆွေးခြင်းလည်း မရှိပါလေနှင့်။ ဧကန် မလွဲ ကျွန်ုပ်တို့သည် အသင်၏ဇနီးမှအပ အသင်နှင့် တကွအသင်၏အိမ်သူအိမ်သား သက်ဆိုင်သူ အားလုံး တို့အားကယ်ဆယ်အံ့သောသူများပင် ဖြစ်ကြပေသည်။ ထိုဇနီးမှာမူကား (ပြစ်ဒဏ်ခံစားရန်) ကျန်ရစ်ခဲ့ကြ ကုန်သောသူတို့တွင် တစ်ဦးအပါအဝင် ဖြစ်ချိမ့်မည်။

إِنَّا مُنزِلُونَ عَلَىٰٓ أَهْلِ هَٰذِهِ
ٱلْقَرْيَةِ رِجْزًا مِّنَ ٱلسَّمَآءِ
بِمَا كَانُوا۟ يَفْسُقُونَ ٣٤

၃၄။ ဧကန်အမှန် ကျွန်ုပ်တို့သည် ဤမြို့သူရွာသား တို့အပေါ်၌ ၎င်းတို့သည် အမိန့်တော်ကိုဖီဆန်လျက် ရှိခဲ့ကြသောကြောင့် မိုးကောင်းကင်မှ ပြစ်ဒဏ် တစ်မျိုးကို ချပေးအံ့သောသူများပင် ဖြစ်ကြပေသည်။

وَلَقَد تَّرَكْنَا مِنْهَآ ءَايَةًۢ بَيِّنَةً
لِّقَوْمٍ يَعْقِلُونَ ٣٥

၃၅။ သို့ရာတွင်ငါအရှင်မြတ်သည် သိနားလည်ကြ ကုန်သော အမျိုးသားတို့အဖို့ ထိုမြို့ရွာမှ ထင်ရှားစွာ သော သက်သေလက္ခဏာအချို့ကို ချန်လှပ်၍ ထားရှိ တော်မူခဲ့ပေသတည်း။

وَإِلَىٰ مَدْيَنَ أَخَاهُمْ شُعَيْبًا
فَقَالَ يَٰقَوْمِ ٱعْبُدُوا۟
ٱللَّهَ وَٱرْجُوا۟ ٱلْيَوْمَ ٱلْـَٔاخِرَ
وَلَا تَعْثَوْا۟ فِى ٱلْأَرْضِ
مُفْسِدِينَ ٣٦

၃၆။ ထိုနည်းတူစွာ (ငါအရှင်မြတ်သည်) မဒ်ယန်မြို့(သားတို့)ထံသို့ ၎င်းတို့၏နောင်တော် ရှုအိုက်ဗ်အား (နဗီတမန်တော်အဖြစ် စေလွှတ်တော်မူခဲ့၏။) သို့ဖြစ်ပေရာ ထို 'ရှုအိုက်ဗ်' က 'အို-ငါ၏အမျိုးသားတို့။ အသင်တို့သည် အလ္လာဟ် အရှင်မြတ်အား ဆည်းကပ်ကိုးကွယ်ကြလေကုန်။ ၎င်းပြင် အသင်တို့သည် နောက်ဆုံးနေ့ကို စိုးရိမ်ကြလေကုန်။ ထိုမှတပါး အသင်တို့သည် ဖျက်ဆီးသူများအဖြစ် တိုင်းပြည်တွင် သောင်းကျန်းမှုမပြုလုပ်ကြကုန်လင့်'ဟု ပြောကြားခဲ့၏။

فَكَذَّبُوهُ فَأَخَذَتْهُمُ
ٱلرَّجْفَةُ فَأَصْبَحُوا۟ فِى
دَارِهِمْ جَٰثِمِينَ ٣٧

၃၇။ သို့ရာတွင် ၎င်းတို့သည် ထို'ရှုအိုက်ဗ်'အား မဟုတ်မမှန်ဟူ၍ စွပ်စွဲငြင်းပယ်ခဲ့ကြကုန်၏။ သို့ဖြစ်ပေရာ မြေငလျင်သည် ၎င်းတို့အား ဖမ်းဆီးကွပ်မျက်ခဲ့လေရာ၊ ၎င်းတို့မှာမိမိတို့ နေအိမ်များ၌ မှောက်လျက်လဲနေသူများပင် ဖြစ်ခဲ့ကြကုန်သတည်း။

وَعَادًا وَثَمُودَا۟ وَقَد تَّبَيَّنَ
لَكُم مِّن مَّسَٰكِنِهِمْ ۖ وَزَيَّنَ
لَهُمُ ٱلشَّيْطَٰنُ أَعْمَٰلَهُمْ
فَصَدَّهُمْ عَنِ ٱلسَّبِيلِ
وَكَانُوا۟ مُسْتَبْصِرِينَ ٣٨

၃၈။ ထိုမှတပါး(ငါအရှင်မြတ်သည်) 'အာဒ်' အမျိုးသားတို့အားလည်းကောင်း၊ 'ဆမူဒ်' အမျိုးသားတို့အားလည်းကောင်း၊ (ကွပ်မျက်ဖျက်ဆီးတော်မူခဲ့၏၊) ထို့ပြင်မချွတ်မလွဲ (၎င်းတို့ကွပ်မျက်ခြင်းခံခဲ့ရသည်မှာ) အသင်တို့အဖို့ ၎င်းတို့၏ နေအိမ်များကို (ကြည့်ရှုလေ့လာခြင်း)ဖြင့် ထင်ရှားခဲ့လေပြီ။

စင်စစ်သော်ကား 'ရှိုင်တွာန်' မိစ္ဆာကောင်သည် ၎င်းတို့၏ လုပ်ကိုင် ဆောင်ရွက်ချက်များကို ၎င်းတို့၏ အမြင်၌ တင့်တယ်လှပအောင် ပြုလုပ်ပြီးလျှင် ၎င်းတို့အား(မှန်ကန်သော တရား)လမ်းမှ တားဆီး ပိတ်ပင်ခဲ့လေ၏။ စင်စစ် ၎င်းတို့မှာ အသိအမြင်ရှိသော သူများပင် ဖြစ်ခဲ့ကြကုန်၏။

وَقَارُونَ وَفِرْعَوْنَ وَهَامَانَ ۖ وَلَقَدْ جَاءَهُم مُّوسَىٰ بِالْبَيِّنَاتِ فَاسْتَكْبَرُوا فِي الْأَرْضِ وَمَا كَانُوا سَابِقِينَ ﴿٣٩﴾

၃၉။ ထိုနည်းတူစွာ (ငါအရှင်မြတ်သည်) 'ကာရူန်' အားလည်းကောင်း၊ 'ဖစ်ရ်အောင်န်' အားလည်းကောင်း၊ 'ဟာမာန်' အားလည်းကောင်း၊ (ဖျက်ဆီးတော်မူခဲ့၏၊) ထိုမှတပါး မုချဧကန် 'မူစာ' သည် ၎င်းတို့ထံ ထင်ရှားစွာသော သက်သေ လက္ခဏာတော်များနှင့်တကွ ရောက်ရှိ၍လာခဲ့ပေသည်။ သို့ရာတွင် ၎င်းတို့မှာ တိုင်းပြည်၌ မောက်မာဆိုးသွမ်းခဲ့ကြကုန်၏။ အမှန်မှာ ၎င်းတို့သည်(ငါအရှင်မြတ်၏ပြစ်ဒဏ်မှ) လွတ်မြောက်သွားနိုင်ကြသူများ မဖြစ်ခဲ့ကြချေ။

فَكُلًّا أَخَذْنَا بِذَنبِهِ ۖ فَمِنْهُم مَّنْ أَرْسَلْنَا عَلَيْهِ حَاصِبًا وَمِنْهُم مَّنْ أَخَذَتْهُ الصَّيْحَةُ وَمِنْهُم مَّنْ خَسَفْنَا بِهِ الْأَرْضَ وَمِنْهُم مَّنْ أَغْرَقْنَا ۚ وَمَا كَانَ اللَّهُ لِيَظْلِمَهُمْ وَلَٰكِن كَانُوا أَنفُسَهُمْ يَظْلِمُونَ ﴿٤٠﴾

၄၀။ သို့ဖြစ်ပေရာ ငါအရှင်မြတ်သည် (၎င်းတို့အနက်) အသီးသီးအား ၎င်း၏ပြစ်မှုကြောင့် ဖမ်းဆီးကွပ်မျက်တော်မူခဲ့၏။ ငါအရှင်မြတ်သည် ၎င်းတို့အနက် အချို့၏အပေါ်၌ ကျောက်ခဲများပါရှိသော လေပြင်းမုန်တိုင်းကို စေလွှတ်တော်မူခဲ့၏။ ထိုနည်းတူစွာ ၎င်းတို့အနက်အချို့ကို ကျယ်လောင်ပြင်းထန်လှသောအသံသည် ဖမ်းဆီးကွပ်မျက်ခဲ့လေ၏။ ထို့ပြင် ၎င်းတို့အနက် အချို့ကို ငါအရှင်မြတ်သည် မြေမြို စေတော်မူခဲ့၏။ ထိုမှတပါး ၎င်းတို့အနက် အချို့ကို မူကား ငါအရှင်မြတ်သည် ရေနစ်စေတော်မူခဲ့၏။ အမှန်သော်ကား အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့အား မတရားနှိပ်စက်တော်မူခဲ့သည်မဟုတ်ပေ။ သို့ရာတွင် ၎င်းတို့သည် မိမိတို့ကိုယ်တိုင် မိမိတို့ကိုယ်ကို နှိပ်စက်ညှဉ်းပန်းလျက် ရှိခဲ့ကြကုန်သတည်း။ [၁]

(၁) အာဒ်၊ ဆမူဒ်၊ ဖစ်ရ်အောင်န်၊ ဟာမာန်နှင့် ကာရူန်တို့သည် အာဏာဂုဏ်၊ ဓနဂုဏ်မောက်၍ အလ္လာဟ်အရှင်မြတ်၏ တရားတော်များကို သွေဖည်ဆန့်ကျင်ကာ တိုင်းပြည်တွင် ဆူပူသောင်းကျန်းလာခဲ့ကြသည့်အခါ ပြစ်ဒဏ်အမျိုးမျိုးသင့်ပြီး မရှုမလှသေကျေ ပျက်စီးသွားခဲ့ကြရလေသည်။ သတိသံဝေဂ ရဖွယ်ရာပင်၊ ၎င်းတို့၏လမ်းစဉ်ကို လိုက်နာကြသော သူများသည်လည်း နောက်ဆုံးတွင် ၎င်းတို့ကဲ့သို့ပင် မရှုမလှသေကျေ ပျက်စီးသွားကြရမည်သာတည်း။

مَثَلُ الَّذِينَ اتَّخَذُوا مِن
دُونِ اللَّهِ أَوْلِيَاءَ كَمَثَلِ
الْعَنكَبُوتِ ۚ اتَّخَذَتْ بَيْتًا ۖ
وَإِنَّ أَوْهَنَ الْبُيُوتِ لَبَيْتُ
الْعَنكَبُوتِ ۘ لَوْ كَانُوا يَعْلَمُونَ ﴿٤١﴾

၄၁။ အလ္လာဟ်အရှင်မြတ်အားစွန့်၍ အခြား တစ်စုံ တစ်ရာကို (မိမိတို့၏) ကိစ္စအ၀၀ကို ပြီးစီးအောင် ပြုလုပ်ဆောင်ရွက်ပေးသူများဟု ရွေးချယ်ပြုလုပ်ကြကုန်သောသူတို့၏ ဥပမာကား၊ ပင့်ကူ၏ ဥပမာ အလားတူ၏။ ထိုပင့်ကူမှာ အိမ်တစ်ခုကို ပြုလုပ်၏။ သို့ရာတွင် ဧကန်မလွဲ နုန့်နဲ့ဆုံး(အားအနည်းဆုံး) သောအိမ်မှာ ပင့်ကူ၏အိမ်ပင်ဖြစ်ကြောင်း၊ ၎င်းတို့ သိရှိကြလျှင် ကောင်းလေစွ။ ၁

إِنَّ اللَّهَ يَعْلَمُ مَا يَدْعُونَ
مِن دُونِهِ مِن شَيْءٍ ۚ وَهُوَ
الْعَزِيزُ الْحَكِيمُ ﴿٤٢﴾

၄၂။ ဧကန်မလွဲ အလ္လာဟ်အရှင်မြတ်သည် မိမိအား စွန့်၍၊ ၎င်းတို့ ဟစ်ခေါ်လျက်ရှိကြသော မည်သည့် အရာကိုမဆို ကောင်းစွာသိရှိတော်မူ၏။ အမှန်သော်ကား ထိုအရှင်မြတ်သည်တန်ခိုးတော်ဖြင့် လွှမ်းမိုးတော်မူသော၊ ဆင်ခြင်တုံတရားနှင့် ပြည့်စုံတော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူ၏။

وَتِلْكَ الْأَمْثَالُ نَضْرِبُهَا
لِلنَّاسِ ۖ وَمَا يَعْقِلُهَا
إِلَّا الْعَالِمُونَ ﴿٤٣﴾

၄၃။ ငါအရှင်မြတ်သည် ဤဥပမာ ပုံဆောင်ချက်များကို လူတို့၏အကျိုးငှာ ခိုင်းနှိုင်းတော်မူ၏။ သို့ရာတွင် 'အာလင်မ်' ပညာရှင်တို့သည်သာလျှင် ယင်းဥပမာ ပုံဆောင်ချက်တို့ကို သိနားလည်ကြကုန်သတည်း။ ၂

---

① **မုရှ်ရစ်က်တို့၏ ကိုးကွယ်ရာ ပင့်ကူအိမ်ပမာ။**

အိမ်တည်ဆောက်ခြင်း၏ အဓိကရည်ရွယ်ချက်မှာ အသက်စည်းစိမ်ဥစ္စာ ပစ္စည်းများကို လုံခြုံစွာ သိုလှောင်ထားရန်နှင့် အေးချမ်းသာယာစွာ နေနိုင်ရန် ပင်ဖြစ်သည်။ အိမ်သည် ခိုင်ခံ့ရမည်။ လုံခြုံရမည်။ အပူအအေးဒဏ် ခံနိုင်ရမည်။ ဘေးရန်ကာကွယ်နိုင်ရမည်။ မလုံခြုံသော၊ မခိုင်ခံ့သော၊ ဘေးရန်မကာကွယ်နိုင်သော နုန့်နဲ့ချူချာသော ပင့်ကူအိမ်ကဲ့သို့သော အိမ်သည် အိမ်ပင်မဟုတ်ချေ။ ထိုသို့သော နုန့်နဲ့ချူချာသော အိမ်ရှိခြင်းမှာ မရှိခြင်းနှင့်မထူးခြားပေ။ ထို့အတူကာဖိရ်၊ မုရှ်ရစ်က်များ အလ္လာဟ်အရှင်မြတ်အား စွန့်၍ မျှော်လင့်ကြီးစွာဖြင့် ဆည်းကပ်ကိုးကွယ်လျက် ရှိကြသော ၎င်းတို့၏အချည်းနှီးသော တစ်စုံတစ်ရာမပြုစွမ်းနိုင်သော ကိုးကွယ်ရာများသည် လည်း ပင့်ကူအိမ်ပမာ နုန့်နဲ့ချူချာလုကြပေသည်။ ခိုလှုံရာ၊အားထားရာ၊ မှီခိုရာများကား အလျှင်းမဟုတ်ကြပေ။

خَلَقَ اللّٰهُ السَّمٰوٰتِ وَالْاَرْضَ بِالْحَقِّ ۭ اِنَّ فِيْ ذٰلِكَ لَاٰيَةً لِّلْمُؤْمِنِيْنَ ﴿٤٤﴾

၄၄။ အလ္လာဟ်အရှင်မြတ်သည် မိုးကောင်းကင်များကိုလည်းကောင်း၊ ပထဝီမြေကိုလည်းကောင်း၊ တိကျမှန်ကန်စွာ ဖန်ဆင်းတော်မူခဲ့ပေသည်။ ကေန်မလွဲ ဤသည်၌ 'မုအ်မင်န်' သက်ဝင်ယုံကြည်သူတို့အဖို့ (ကြီးကျယ်လှစွာသော) သက်သေသည် အမှန်ပင် ရှိချေသတည်း။ [၁]

---

② **ဥပမာပုံဆောင်ခြင်း၏သဘော။**

အလ္လာဟ်အရှင်မြတ်သည် ကုရ်အာန်ကျမ်းမြတ်တွင် ကာဖိရ်၊ မုရှ်ရစ်က်တို့၏ ကိုးကွယ်ရာများကို ယင်ကောင်၊ ပင့်ကူကောင်တို့ဖြင့် ပုံဆောင် နှိုင်းယှဉ်မိန့်ဆိုထားတော်မူသည်။ သို့ပုံဆောင် မိန့်ကြားတော်မူလိုက်သည့်အခါ ကာဖိရ်၊ မုရှ်ရစ်က်တို့၏ ကိုးကွယ်ရာများသည် မည်သို့မျှ တန်ဖိုးမရှိကြောင်း ပို၍ပို၍ ထင်ရှားလာခဲ့ပေသည်။ ထိုအခါ ကာဖိရ်၊ မုရှ်ရစ်က်များသည် မခံမရပ်နိုင်ဖြစ်ကာ၊ အလ္လာဟ်အရှင်မြတ်သည် မိမိ၏ ဂုဏ်သိက္ခာကို မထောက်ထားဘဲ ဤမျှသေးနုပ်သော ပိုးမွှားတိရစ္ဆာန်တို့ဖြင့် အဘယ်ကြောင့် ပုံဆောင်တော်မူပါသနည်းဟု ဝေဖန်ပြောဆိုလာခဲ့ကြပေသည်။

ပုံဆောင်ခြင်း၏ အဓိကရည်ရွယ်ချက်မှာ တင်ပြလိုသော အရာဝတ္ထုတစ်ခု၏ ဖြစ်ရပ်မှန်ကို ပိုမိုထင်ရှားပြရန်ပင်ဖြစ်သည်။ သို့ပုံဆောင်ရာတွင် ဥပမာနှင့် ဥပမေယျ အချင်းချင်း စပ်မိဟပ်မိရန်သာ လိုသည်။ ပုံဆောင်ရာတွင် ကြီးသောအရာကို ကြီးသောအရာဖြင့်လည်းကောင်း၊ ငယ်သောအရာကို ငယ်သောအရာဖြင့် လည်းကောင်း၊ သေးသိမ်သောအရာကို သေးသိမ်သော အရာဖြင့်လည်းကောင်း၊ ပုံဆောင်ရသည်သာ ဖြစ်ပေသည်။ ပုံဆောင်သော ပုဂ္ဂိုလ်၏ ဂုဏ်သိက္ခာကို ထည့်သွင်းစဉ်းစားရန်မလိုပေ။ ဤသည့်သဘောကို ပညာရှင်များ ကောင်းစွာသိကြပေသည်။

① **အလ္လာဟ်အရှင်မြတ်သာ အမှန် ကိုးကွယ်ရာ။**

အထက်တွင် ကာဖိရ်၊မုရှ်ရစ်က်တို့ ပြုလုပ်ထားသော ကိုးကွယ်ရာများသည် အမှန်ကိုးကွယ်ရာ မဟုတ်ကြောင်း ပါရှိခဲ့ပြီ။ ယခု ဤအာယတ်တော်တွင် အလ္လာဟ်အရှင်မြတ်သည်သာ အမှန် ကိုးကွယ်ရာဖြစ်ကြောင်း မိန့်ဆိုထားတော်မူသည်။

အလ္လာဟ်အရှင်မြတ်သည် မိုးနှင့်မြေကို တစ်ပါးတည်း မိမိ၏အတိုင်းအဆမရှိ တန်ခိုးတော်ဖြင့် တော်တည့်လျော်ကန်၊ သင့်မြတ်၊မှန်ကန်၊တိကျစွာ အံ့မဆုံး၊ ဖန်ဆင်းထားတော်မူသည်။ သို့ဖန်ဆင်းတော်မူရာတွင်လည်း မည်သူတစ်ဦးတစ်ယောက်၏ အကူအညီမျှမပါချေ။

ထိုသို့ အတိုင်းအဆမရှိ တန်ခိုးတော်နှင့် ပြည့်စုံတော်မူသော အလ္လာဟ်အရှင်မြတ်သည်သာလျှင် တစ်ပါးတည်းသော အမှန်ကိုးကွယ်ရာ အရှင်သခင် ဖြစ်တော်မူသည်။ အဘယ် တစ်စုံတစ်ခုကိုမျှ မပြုစွမ်းနိုင်သော ကာဖိရ်၊ မုရှ်ရစ်က်တို့ ပြုလုပ်ထားကြသည့် အမည်ခံ ကိုးကွယ်ရာများ မှာမူကား၊ အဘယ်မှာလျှင် အမှန်ကိုးကွယ်ရာများ ဖြစ်နိုင်ကြအံ့နည်း။

اُتْلُ مَآ اُوْحِيَ اِلَيْكَ مِنَ الْكِتٰبِ وَاَقِمِ الصَّلٰوةَ ۭ اِنَّ الصَّلٰوةَ تَنْهٰى عَنِ الْفَحْشَاۗءِ وَالْمُنْكَرِ ۭ وَلَذِكْرُ اللّٰهِ اَكْبَرُ ۭ وَاللّٰهُ يَعْلَمُ مَا تَصْنَعُوْنَ ۝

၄၅။ (အို-နဗီတမန်တော်) အသင်သည် မိမိထံ ထုတ်ပြန်ခြင်းခံရလေသော *ကျမ်းတော်မြတ်(ကုရ်အာန်) ကို ရွတ်ဖတ်ပါလေ။*[၁] ၎င်းအပြင် သင်သည် 'ဆွလာတ်' ဝတ်ပြုမှုကိုဆောက်တည်ပါလေ။ ကေန်မလွဲ ဆွလာတ် ဝတ်ပြုမှုသည် အလွန် စက်ဆုပ်ဖွယ်ရာသော အမှုကိစ္စ များမှလည်းကောင်း၊ မဖွယ်မရာသော အလွန့်အမှုကိစ္စ များမှလည်းကောင်း၊ *ပိတ်ပင်တားဆီးလေ၏။*[၂] စင်စစ် မှာမူကား အလ္လာဟ်အရှင်မြတ်အား အောက်မေ့ တ,သ ခြင်းသည် အကြီးကျယ်ဆုံး၊ (အမြင့်မြတ်ဆုံး)ပင်ဖြစ်ပေ သည်။[၃] စင်စစ် အလ္လာဟ်အရှင်မြတ်သည် အသင်တို့ ပြုမူသမျှတို့ကို ကောင်းစွာသိရှိတော်မူပေသတည်း။

---

(၁) တရားဓမ္မဟောကြားရာတွင် ကုရ်အာန်ကျမ်းမြတ်သည် အချုပ်ဖြစ်သည်။ အဓိကဖြစ်သည်။ သို့ဖြစ်ရာ ကုရ်အာန်ကျမ်းမြတ်ကို မိမိကိုယ်တိုင်လည်း ရွတ်ဖတ်သရဇ္ဈာယ်ရမည်။ သူတပါးတို့အားလည်း ကြားနာစေရမည်။ သို့မှသာလျှင် စိတ်ဓာတ်အင်အား သန်စွမ်းကြီးထွားလာပေမည်။ စိတ်ဓာတ်ကြံ့ခိုင် တည်ကြည်ပေမည်။ ကုရ်အာန်ကျမ်းမြတ်ကို ရွတ်ဖတ်သရဇ္ဈာယ်ခြင်း၏ ကုသိုလ်အကျိုးကိုလည်း ခံစားရပေမည်။ ကုရ်အာန်ကျမ်းမြတ်၏ အနက်သဘောများကိုလည်း ပို၍ပို၍ သဘောပေါက် သိနားလည်လာပေမည်၊ သူတပါးတို့သည်လည်း ကုရ်အာန် ကျမ်းလာ ဒေသနာတော်များကို ကြားနာခွင့်ရရှိ၍ အကျိုးအမျိုးမျိုး ခံစားကြရပေမည်။ ဤသို့ဖြင့် မိမိနှင့်တကွ ပတ်ဝန်းကျင်ကိုပါ နှုတ်အားဖြင့် ကောင်းစွာတရားဓမ္မ ဟောကြားနိုင်ပေမည်။ ဤကား **'တဗ်လီဃ်ကောင်လီ'** ပင်။ (ကြည့်-အွတ်ဆ်မာနီ)။

(၂) ဆွလာတ်သည် အလွန့်အလွန် စက်ဆုပ်ရွံရှာဖွယ်ရာ ပြစ်မှုများမှလည်းကောင်း၊ မဖွယ်မရာသော အမှုကိစ္စများမှလည်းကောင်း ပိတ်ပင်တားဆီးပေးသည်။

ဆွလာတ်က ပြစ်မှုများမှ ပိတ်ပင်တားဆီးပေးခြင်း၏ သဘောမှာ နှစ်မျိုးနှစ်စားဖြစ်နိုင်ပေသည်။

(က) အလ္လာဟ်အရှင်မြတ်သည် ဆွလာတ်တွင် သီးသန့်စွမ်းရည်သတ္တိတစ်မျိုးကို ထည့်သွင်းထားတော်မူ သည်။ ယင်းစွမ်းရည်သတ္တိကြောင့် ဆွလာတ်သည် ဆွလာတ်ဆောက်တည်သူအား ပြစ်မှုများမှ ပိတ်ပင်တားဆီး ကာကွယ်ပေးသည်။ ဥပမာ-ဆေးဝါးမှီဝဲစားသုံးမှုသည် ရောဂါများကို ပိတ်ပင်တားဆီး ကာကွယ်ပေးသကဲ့သို့ပင်။ ဤတွင် သိထားအပ်သည်မှာ ဆေးတစ်ခွက်တည်း သောက်သုံးရုံမျှဖြင့် ရောဂါများကို ပိတ်ပင်တားဆီး ကာကွယ်နိုင်သည်မဟုတ်။ သက်ဆိုင်ရာသမားတော်၏ ညွှန်ကြားချက်နှင့်အညီ သတ်မှတ်ထားသည့် ဆေးပမာဏကို သတ်မှတ်ထားသည့် အချိန်ကာလအထိ စနစ်တကျ အချိန်မှန်မှန် စွဲမြဲစွာ မှီဝဲသောက်သုံးပါမှ၊ အဆိုပါဆေးကို မှီဝဲစားသုံးချိန်တွင်လည်း သမားတော်က ရှောင်ကြဉ်ရန်ညွှန်ပြထားသော အရာများကို ကောင်းစွာရှောင်ကြဉ်ပါမှ၊ ဆေးသည် မိမိ၏အစွမ်းသတ္တိကို ပြသပေသည်။ ထို့အတူပင် ဆွလာတ်သည် အလွန်ထက်မြက်သော ➤➤

➤➤ ဆေးတစ်လက်ဖြစ်သည်။ ဆွလာတ်ကို တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်) ညွှန်ပြထားတော်မူသော စည်းကမ်းချက်များနှင့်အညီ စနစ်တကျ အချိန်မှန်မှန်၊ စွဲမြဲစွာဆောက်တည်ပါက ဆွလာတ်နှင့်စပ်လျဉ်း၍ တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)က ရှောင်ကြဉ်ရန် တားမြစ်ထားတော်မူသော အရာများကိုလည်း ကောင်းစွာရှောင်ကြဉ်ပါက ဆွလာတ်သည် မိမိ၏ စွမ်းရည်သတ္တိများကို မုချပြသသည်သာတည်း။

(ခ) 'ဆွလာတ်သည် ပြစ်မှုများကို ပိတ်ပင်တားဆီးသည်'ဟူသည့် ဆွလာတ်ကို စနစ်တကျ တည်ဆောက်ပါက ဆွလာတ်တည်ဆောက်ခြင်း၏ အကျိုးဆက်မှာ ယင်းသို့ပင်ဖြစ်အပ်သည်ဟူ၏။ လင်းပြဦးအံ့- အမှန်မှာ ဆွလာတ်ဆောက်တည်သူတစ်ဦးသည် အလ္လာဟ်အရှင်မြတ်၏ (ရှေ့တော်မှောက်တွင် ကိုယ်၊နှုတ်၊ နှလုံး၊ သုံးပါးလုံးတို့ဖြင့်-

♦ အရှင်မြတ်သည် စကြာဝဠာအဝှန်း၏ အရှင်သခင်ဖြစ်တော်မူကြောင်း၊

♦ မိမိ၏အရှင်သခင် ဖြစ်တော်မူကြောင်း၊

♦ အရှင်မြတ်သည် တစ်ဆူတည်းသော ကိုးကွယ်ရာအရှင်ဖြစ်တော်မူကြောင်း၊

♦ စကြာဝဠာအဝှန်း၌ အရှင်မြတ်၏ အာဏာစက်သည်သာလျှင် တည်ရှိကြောင်း၊

♦ စကြာဝဠာအဝှန်းသည် အရှင်မြတ်ကိုသာလျှင် မှီခိုအားထားရကြောင်း၊

♦ မိမိသည် အရှင်မြတ်ညွှန်ပြတော်မူသော တရားလမ်းစဉ်ကိုသာ လိုက်နာကျင့်သုံးမည် ဖြစ်ပါကြောင်း တို့ကို ကျိုးနွံစွာ ဝန်ခံကတိပြု၏။ သစ္စာဆို၏။

သို့ဝန်ခံကတိပြုပြီးနောက်၊ သစ္စာဆိုပြီးနောက် 'မတ်စ်ဂျိဒ်' ဗလီအပြင်သို့ ထွက်လာသည့်အခါတွင်လည်း ဗလီအတွင်း၌ မိမိ၏ ဝန်ခံကတိပြုခဲ့သည့်အတိုင်း ဗလီအပြင်တွင်လည်း နေထိုင်ကျင့်သုံး သွားရပေမည်။ ကတိမဖျက်ရ၊ သစ္စာမဖောက်ရ။ အမိန့်တော်ကို မသွေဖည်ရ။ တစ်နည်းအားဖြင့် ဆွလာတ်ဆောက်တည်ရာတွင် လိုက်နာဆောင်ရွက်ရသော အပြုအမူ၊ အနေအထား၊ ပုံပန်းသဏ္ဍာန်၊ ဟန်ပန်အမူအရာအားလုံးတို့က ဆွလာတ်ဆောက်တည်သူအား...

"အို - ဆွလာတ်ဆောက်တည်သူ အလ္လာဟ်အရှင်မြတ်၏ ရှေ့တော်၌ ဝန်ခံကတိပြုသူ၊ သစ္စာဆိုသူ မိမိသည် အလ္လာဟ်အရှင်မြတ်၏ ကျွန်ဖြစ်ပါသည်ဟု ဝန်ခံသူ အသင်သည် မိမိကတိနှင့်အညီ နေရာမရွေး၊ ချိန်ခါမရွေး ကျွန်ပီပီနေထိုင်ပါလေ၊ အမိန့်တော်များကို နာခံပါလေ၊ ပြစ်မှုအပေါင်းကို ဝေးစွာရှောင်ပါလေ"ဟူ၍ တစ်နေ့လျှင် ငါးကြိမ်တိုင်တိုင် သတိပေးလျက်၊ တောင်းဆိုလျက် ရှိပေသည်။ သို့သတိပေး တောင်းဆိုနေပါလျက် မနာခံပါက မနာခံသူ၏အပြစ်ပင်၊ ဆွလာတ်မှုကား ပြစ်မှုအပေါင်းကို ကြဉ်ရှောင်ရန် ပိတ်ပင်တားဆီးလျက်ပင်။

တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)က မိန့်ကြားတော်မူခဲ့သည်မှာ 'အကြင်သူအားရင်း၏ဆွလာတ်သည် ရှက်ဖွယ်အမှုနှင့် မကောင်းမှုများမှ ပိတ်ပင်တားဆီးခြင်းမရှိသော်၊ ထိုသူသည် ယင်းသို့သော ဆွလာတ်ဖြင့် အလ္လာဟ်အရှင်မြတ်နှင့်ပို၍ပင် ဝေးကွာသွားပေသည်။ (အိဗ်နုကဆီရ်၊ အ-၃၊ စ-၄၁၄)

## ၇ <u>အလ္လာဟ်အရှင်မြတ်အား အောက်မေ့တသ သတိရမှုသည် အမြင့်မြတ်ဆုံးပင်။</u>

ဆွလာတ်သည် အလ္လာဟ်အရှင်မြတ်အား အောက်မေ့တသ သတိရရန် အကောင်းဆုံးနည်းပင်ဖြစ်သည်။ ဆွလာတ်ဆောက်တည်မှု၏ အဓိကရည်ရွယ်ချက်မှာလည်း အလ္လာဟ်အရှင်မြတ်အား သတိရရန်ပင်ဖြစ်သည်။ (ကြည့်-ကုရ်အာန် ၂၀း၁၄)။

အလ္လာဟ်အရှင်မြတ်အား အောက်မေ့တသ သတိရမှုသည် အကြီးကျယ်ဆုံး၊ အမြင့်မြတ်ဆုံးပင် ဖြစ်သည်။ အလ္လာဟ်အရှင်မြတ်အား အောက်မေ့တသ သတိရမှုကို ဆွလာတ်၊ ဂျိဟာဒ်စသည့် 'အိဗာဒတ်'➤➤

وَلَا تُجَادِلُوٓا أَهْلَ الْكِتٰبِ إِلَّا بِالَّتِي هِيَ أَحْسَنُ ۖ إِلَّا الَّذِينَ ظَلَمُوا مِنْهُمْ ۖ وَقُولُوٓا اٰمَنَّا بِالَّذِيٓ أُنْزِلَ إِلَيْنَا وَأُنْزِلَ إِلَيْكُمْ وَإِلٰهُنَا

၄၆။ ၎င်းပြင် အသင်တို့သည် ကျမ်းဂန်ရရှိခဲ့ကြသောသူတို့နှင့် ကောင်းမွန်(ယဉ်ကျေးသိမ်မွေ့)လှသောနည်းဖြင့်သာလျှင် *အချေအတင်ပြောဆိုကြလေကုန်၊* ^၁ သို့ရာတွင် ၎င်းတို့အနက် တရားလွန်ပြုမူသောသူတို့နှင့်မူကား ပြတ်သားစွာ အချေအတင်ပြောဆိုနိုင်ခွင့်ရှိ၏။ သို့တစေလည်း အသင့်မြတ်ဆုံးမှာ သိမ်မွေ့သောနည်းပင်ဖြစ်သည်။ ထိုမှတပါး အသင်တို့သည် (ဤသို့) ပြောကြားကြလေကုန်၊ "ကျွန်ုပ်တို့သည် မိမိတို့ထံ ကျရောက်ခဲ့သော (ကျမ်းမြတ်)ကိုလည်းကောင်း၊ အသင်တို့ထံ ကျရောက်ခဲ့ကြသော (ကျမ်းဂန်)တို့ကိုလည်းကောင်း၊ ယုံကြည်ကြကုန်၏။

➤➤ ခဝပ်ကိုးကွယ်မှုအပေါင်းတို့၏ အသက်၊ ဝိညာဉ်ဟူ၍ပင် ခေါ်ဆိုနိုင်ပေသည်။ အလ္လာဟ်အရှင်မြတ်အား အောက်မေ့ တသ သတိရမှုမပါရှိသော အိဗာဒတ် ခဝပ်ကိုးကွယ်မှုသည် အသက်၊ဝိညာဉ်မပါသော ကိုယ်ခန္ဓာ၊ အဓိပ္ပာယ်မရှိသော စာလုံးသာဖြစ်မည်။ ဤသည့်သဘောပါရှိသော ဟဒီးစ်သြဝါဒတော်များလည်း အမြောက်အမြားရှိပေသည်။ ယင်းသည့် သြဝါဒတော်များကို ထောက်ချင့်ပြီး 'အာလင်မ်'ပညာရှင်များက '**အလ္လာဟ်အရှင်မြတ်အား အောက်မေ့တသ သတိရမှုထက် မြင့်မြတ်သော 'အိဗာဒတ်' ခဝပ်ကိုးကွယ်မှုမရှိ**' ဟူ၍ပင် အဆုံးအဖြတ်ပေးခဲ့ကြလေသည်။

သာဝကကြီးတစ်ပါးက တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)ထံတွင် "တမန်တော်မြတ်၊ အစ္စလာမ်၏ အမိန့်ပညတ်တော်များသည် များပြားလှပါသည်။ သို့ဖြစ်ရာ တမန်တော်မြတ်သည် ကျွန်တော်မျိုးအား အဖက်ဖက်မှ ပြည့်ဝစုံလင်သော အပြည့်စုံဆုံးသော ကျင့်ဝတ်တစ်ရပ်ကို ညွှန်ပြတော်မူပါ"ဟု လျှောက်ထားရာ တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)က ( لايزال لسانك رطبا من ذكر الله ) 'အသင်၏လျှာသည် အမြဲထာဝစဉ် အလ္လာဟ်အရှင်မြတ်အား အောက်မေ့တသ သတိရခြင်းဖြင့်စို၍ နေပါစေ'ဟု မိန့်ကြားတော်မူလိုက်လေသည်။ (ကြည့်-အွတ်ဆ်မာနီ)။

① **အချေအတင်ပြောဆိုရာတွင် ချောင်ပြေပြစ်ရမည်။**

အထက်တွင် တရားဓမ္မဟောကြားရမည့် အကြောင်းပါရှိ၏။ သို့တရားဓမ္မ ဟောကြားသည့်အခါ သွေဖည်ငြင်းဆန်သော မနာခံသောသူများသည် အနှောင့်အယှက် ပြုလာကြပေမည်။ အငြင်းအခုံ ပြုလာကြပေမည်။ အချေအတင် ပြောဆိုလာကြပေမည်။ ဤသည် သဘာဝပင်။ ထို့အတွက် ဤအာယတ်တော်များတွင် အချေအတင်ပြောဆိုကြရာ၌ အတိုက်အခံအုပ်စု၏ ပညာရေး၊ သာသနာရေးများကိုထောက်၍ ကျိုးကြောင်းပြကာ၊ ချောင်ပြေပြစ်စွာ ပြောဆိုရမည့်အကြောင်း၊ အချေအတင် ပြောဆိုရာ၌ နိုင်လိုဇောတွင်မျော၍ အလွန်အကျွံ မဖြစ်ရမည့်အကြောင်း၊ အမှန်တရားကို အဘယ်နေရာ၌ အဘယ်သူ၌ အဘယ်မျှပင်ရှိစေ ဝန်ခံရမည့်အကြောင်းများကို မိန့်ဆိုထားတော်မူသည်။



وَإِلَٰهُكُمْ وَاحِدٌ وَنَحْنُ لَهُۥ مُسْلِمُونَ ﴿٤٦﴾

စင်စစ်သော်ကား ကျွန်ုပ်တို့၏ ဆည်းကပ်ကိုးကွယ်ရာ အရှင်မြတ်သည်လည်းကောင်း၊ အသင်တို့၏ ဆည်းကပ်ကိုးကွယ်ရာ အရှင်မြတ်သည်လည်းကောင်း၊ တစ်ဆူတည်းသာဖြစ်တော်မူ၏။ ၎င်းပြင် ကျွန်ုပ်တို့သည် ထိုအရှင်မြတ်၏ အမိန့်တော်ကိုသာလျှင် လိုက်နာသူများ ဖြစ်ကြပေသတည်း"။ ¹

---

➤➤ မှရှိရစ်က်များတွင် အသိပညာလည်းမရှိ၊ ၎င်းတို့၏ ဘာသာအယူဝါဒမှာလည်း လုံးဝမှား၏။ (အဟ်လိကိတာဗ်) ကျမ်းဂန်ရသူများတွင်မူ ပညာရှင်များလည်း ရှိခဲ့ကြသည်။ ၎င်းတို့၏ သာသနာသည်လည်း အစမူလ၌ အမှန်ပင်ဖြစ်ခဲ့ပေသည်။ နောက်ပိုင်းတွင်မူ နှုတ်ပယ်ဖြည့်စွက်၍ အမျိုးမျိုး ကပြောင်းကပြန် ပြုလုပ်ခဲ့ကြသည့်အတွက် အုတ်အရောရော ကျောက်ရောရော ဖြစ်လာခဲ့ပေသည်။ သို့ဖြစ်၍ အဆိုပါအုပ်စုနှစ်ခုနှင့် အချေအတင် ပြောဆိုရာတွင် တမျိုးတစားတည်းမဖြစ်ရာ။ ၎င်းတို့၏ ပညာရေးနှင့်သာသနာရေးများကို ထောက်ထားရမည်သာ။ ကျိုးကြောင်းပြကာ ယဉ်ကျေးသိမ်မွေ့စွာ ပြောဆိုရမည်သာ။ သို့ယဉ်ကျေးသိမ်မွေ့စွာ ပြောဆိုပါလျက်၊ ၎င်းတို့အနက်မှ မလိုမုန်းတီးစိတ်ဖြင့် မတရားကျူးကျော် စော်ကားလာကြသောသူများကိုမူကား အခြေအနေရ တိကျပြတ်သားစွာပင် အချေအတင် ပြောဆိုပိုင်ခွင့်ရှိပေသည်။ သို့တိကျပြတ်သားစွာ ပြောဆိုရာတွင်လည်း ချောင်ပြေပြစ်မှု၊ ယဉ်ကျေးသိမ်မွေ့မှုကိုမူကား လက်မလွတ်စေရာ။

မည်သို့မည်ပုံ တရားဓမ္မ ဟောကြားရမည့်အကြောင်း ကုရ်အာန် (၁၆း၁၂၅)တွင် ပါရှိခဲ့သည်။ သက်ဆိုင်ရာ အဖွင့်များကိုလည်း အကျယ်ရေးသားခဲ့ပေပြီ၊ ပြန်လည်ရှုပါကုန်။

① **"အဟ်လိကိတာဗ်" အား ဖိတ်ခေါ်သံ။**

မုစ်လင်မ်တို့သည် 'အဟ်လိကိတာဗ်'များအား ဖိတ်ခေါ်ရာတွင် ၎င်းတို့၏ပညာရေးနှင့် သာသနာရေးကို ထောက်ထား၍ ကျိုးကြောင်းပြကာ ယဉ်ကျေးသိမ်မွေ့စွာ ပြောကြားကြရမည်မှာ-

"အို-(အဟ်လိကိတာဗ်) ကျမ်းရသူအပေါင်းတို့၊ ငါတို့မုစ်လင်မ်များသည် မိမိတို့ထံ ကျရောက်လာသော ကုရ်အာန်ကျမ်းမြတ်ကိုလည်း ယုံကြည်မြတ်နိုးကြပါသည်။ အသင်တို့ထံ ကျရောက်ခဲ့သော ကျမ်းဂန်များကိုလည်း ယုံကြည်လက်ခံကြပါသည်။ ထို့ပြင်တဝ ငါတို့၏ ကိုးကွယ်ရာအရှင်နှင့် သင်တို့၏ ကိုးကွယ်ရာအရှင်မှာလည်း တစ်ပါးတည်းပင်။

ငါတို့သည် ပွင့်လေသမျှသော နဗီတမန်တော် အပေါင်းတို့အားလည်း ယုံကြည်ကြပါသည်။ ထိုအရှင်မြတ် ထုတ်ပြန်ချမှတ်တော်မူသော ကျမ်းဂန်အားလုံးတို့ကိုလည်း ယုံကြည်ကြပါသည်။ ထိုအရှင်မြတ်၏ နောက်ဆုံးတမန်တော်နှင့် နောက်ဆုံးကျမ်းဂန်တော်ကိုလည်း ယုံကြည်ကြပါသည်။ ကွဲပြားချက်မှာ ငါတို့သည် တစ်ဆူတည်းဖြစ်တော်မူသော အလ္လာဟ်အရှင်မြတ်အားသာလျှင် ဆည်းကပ်ကိုးကွယ်ကြပါသည်။ ထိုအရှင်မြတ်၏ အမိန့်တော်များကိုသာလျှင် နာခံကြပါသည်။ အသင်တို့ကမူ ထိုအရှင်မြတ်နှင့် တဖက်ယှဉ်တွဲ၍ အခြားအရာများကိုလည်း ဆည်းကပ်ကိုးကွယ်ကြသည်။ အခြားကိုးကွယ်ရာများ၏ အမိန့်များကိုလည်း နာခံကြသည်။ အသင်တို့သည် အချို့ကိုယုံကြည်ကြသည်။ အချို့ကိုငြင်းပယ်ကြသည်။ ထို့ပြင်တဝ အသင်တို့ရရှိခဲ့ကြသော ကျမ်းဂန်များသည် ယခင်မူလက လုံးဝမှန်ကန်ခဲ့သော်လည်း ယခုမူ အသင်တို့၏ လက်တွင်း၌ မူရင်းအတိုင်း မရှိတော့ပြီ➤➤

وَكَذٰلِكَ اَنۡزَلۡنَاۤ اِلَيۡكَ الۡكِتٰبَ‌ؕ فَالَّذِيۡنَ اٰتَيۡنٰهُمُ الۡكِتٰبَ يُؤۡمِنُوۡنَ بِهٖ‌ۚ وَمِنۡ هٰٓؤُلَاۤءِ مَنۡ يُّؤۡمِنُ بِهٖ‌ؕ وَمَا يَجۡحَدُ بِاٰيٰتِنَاۤ اِلَّا الۡكٰفِرُوۡنَ ﴿۴۷﴾

၄၇။ စင်စစ် ဤနည်းအတိုင်းပင် ငါအရှင်မြတ်သည် အသင့်ထံသို့ ကျမ်းဂန်(ကုရ်အာန်ကျမ်းမြတ်)ကို ချပေးသနားတော်မူခဲ့၏။ သို့ဖြစ်ပေရာ ငါအရှင်မြတ် ကျမ်းဂန် ချီးမြှင့်ပေးသနားတော်မူခဲ့သောသူတို့သည် ယင်း(ကုရ်အာန်)ကျမ်းမြတ်ကို ယုံကြည်ကြကုန်၏။ ထိုမှတပါး ဤ(မက္ကာမြို့သားတို့) အနက်မှလည်း *ယင်း(ကုရ်အာန်)ကျမ်းမြတ်ကို ယုံကြည်ကြသူများ ရှိကြ၏။* [၁] စင်စစ်သော်ကား ငါအရှင်မြတ်၏ 'အာယတ်' တော်များကို 'ကာဖိရ်' သွေဖည်ငြင်းပယ်သောသူတို့သည်သာလျှင် ငြင်းပယ်ကြကုန်၏။

وَمَا كُنۡتَ تَتۡلُوۡا مِنۡ قَبۡلِهٖ مِنۡ كِتٰبٍ وَّلَا تَخُطُّهٗ بِيَمِيۡنِكَ‌ اِذًا لَّارۡتَابَ الۡمُبۡطِلُوۡنَ ﴿۴۸﴾

၄၈။ အမှန်စင်စစ်သော်ကား အသင်သည် ဤကျမ်းဂန်(ကုရ်အာန်ကျမ်းတော်မြတ်)အလျင် မည်သည့်ကျမ်းကိုမျှပင် ဖတ်ရွတ်လျက်ရှိခဲ့သည်လည်း မဟုတ်ပေ။ *မည်သည့်ကျမ်းကိုမျှပင် မိမိလက်ယာလက်ဖြင့် ရေးသားခဲ့သည်လည်း မဟုတ်ပေ။* [၂] သို့ဖြစ်ခဲ့ပါလျှင် အမှားကိုလိုက်စားကြသော သူတို့သည် အမှန်ပင် ဒွိဟသံသယ ဖြစ်ကြပေမည်။

---

➤➤ သို့ဖြစ်ပေရာ အသင်တို့သည် မိမိတို့၏ အမှားများကို ပြုပြင်ကာ ကျွန်ုပ်တို့ကဲ့သို့ပင် တစ်ဆူတည်းဖြစ်တော်မူသော အလ္လာဟ်အရှင်မြတ်အား ယုံကြည်ကြ။ ထိုအရှင်မြတ်နှင့်ယှဉ်တွဲ၍ မည်သည့်အရာကိုမျှ မကိုးကွယ်ကြလေနှင့်၊ ထိုအရှင်မြတ်၏ အမိန့်တော်များကိုသာ နာခံကြ၊ ပွင့်လေသမျှသော တမန်တော်အပေါင်းကို ယုံကြည်ကြ၊ ထိုအရှင်မြတ်၏ ကျမ်းဂန်အားလုံးကိုလည်း ယုံကြည်ကြ၊ ထိုအရှင်မြတ်၏ နောက်ဆုံးတမန်တော်နှင့် နောက်ဆုံးကျမ်းဂန်ကိုလည်း ယုံကြည်ကြဟူ၏။

(၁) အထက်တွင် ဖော်ပြထားသည့်အတိုင်း ဖိတ်ခေါ်လိုက်သည့်အခါ (အဟ်လိကိတာဗ်) ကျမ်းရရှိသူများအနက် မိမိတို့ထံ ကျရောက်လာခဲ့သော ကျမ်းများကို တိကျမှန်ကန်စွာယုံကြည်သော သမ္မာစိတ္တမျှတမှုရှိသော၊ ရိုးသားဖြောင့်မတ်တည်ကြည်သော ပုဂ္ဂိုလ်များသည် ဤကုရ်အာန်ကျမ်းမြတ်ကို ယုံကြည်လာခဲ့ကြပေသည်။ ကျမ်းဂန်ရသူများသာမက အတိတ်ခေတ် ကျမ်းဂန်များနှင့် မည်သို့မျှ မပတ်သက်သော အရဗ်အမျိုးသားများသည်ပင်လျှင် ကုရ်အာန်ကျမ်းမြတ်ကို ယုံကြည်လာခဲ့ကြပေသည်။ အမှန်မှာ ကုရ်အာန်ကျမ်းမြတ်၏ မှန်ကန်မှုမှာ ထင်ရှားလှသည်။ အထောက်အထားများ၊ သက်သေလက္ခဏာများမှာ ပြတ်သားလှသည်။ သို့ဖြစ်ရာ အမှန်တရားကို ဇွတ်မှိတ်ငြင်းပယ်လိုသူများမှတပါး မည်သူမျှ ကုရ်အာန်ကျမ်းတော်မြတ်ကို ငြင်းဆန်မည်မဟုတ်ပေ။

بَلْ هُوَ اٰيٰتٌۢ بَيِّنٰتٌ فِيْ صُدُوْرِ الَّذِيْنَ اُوْتُوا الْعِلْمَ ؕ وَمَا يَجْحَدُ بِاٰيٰتِنَاۤ اِلَّا الظّٰلِمُوْنَ ﴿٤٩﴾

၄၉။ ထိုသို့အလျှင်းမဟုတ်၊ စင်စစ်မှာမူကား ဤကျမ်းဂန်(ကုရ်အာန်ကျမ်းမြတ်)သည် *အသိပညာကို ချီးမြှင့်ပေးသနားတော်မူခြင်းခံခဲ့ကြရသောသူတို့၏* [၁] စိတ်နှလုံးများတွင် (ထိန်းသိမ်းထားသော) လွန်စွာထင်ရှားလှသည့် သက်သေ လက္ခဏာများပင်ဖြစ်ပေသည်။ စင်စစ်သော်ကား မတရားသော သူတို့သည် သာလျှင် ငါအရှင်မြတ်၏ အာယတ်တော်များကို ငြင်းပယ်ကြကုန်သတည်း။

---

⑵ **ကုရ်အာန်သည် အလ္လာဟ်အရှင်မြတ်၏ အာယတ်တော်ပင်။**

တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)သည် တမန်တော်ရာထူးဖြင့် ချီးမြှင့်တော်မူခြင်းမခံရမီ ကုရ်အာန်ကျမ်းမြတ် မကျရောက်မီ မက္ကာမြို့တွင် မက္ကာမြို့သားများနှင့်အတူ နှစ်ပေါင်း(၄၀)တိုင်တိုင် နေထိုင်တော်မူခဲ့သည်။ ထိုသည့်အချိန်ပိုင်းအတွင်း တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် မည်သည့်ဆရာ တစ်ဦးတစ်ယောက်ထံတွင်မှ ချဉ်းကပ်၍ စာပေသင်ကြားခဲ့ဘူး သည်လည်းမရှိ၊ မည်သည့်စာပေကိုမျှ ရွတ်ဖတ်ခဲ့ဘူးသည်လည်းမရှိ၊ မည်သည့်အချိန်တွင်မျှ ကလောင်တံ ကိုင်ခဲ့ဘူးသည်လည်း မရှိသည်ကို အားလုံး အသိပင်။ အကယ်၍သာ တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)သည် တစ်ဦးတစ်ယောက်ထံတွင် ချဉ်းကပ်၍ အနည်းငယ်စိုးစဉ်းမျှပင် ပညာဆည်းပူးမိခဲ့လျှင်၊ အရေးအဖတ် သင်ကြားမိခဲ့လျှင်၊ စာပေတစ်စုံတစ်ရာကို ရွတ်ဖတ်မိခဲ့လျှင် အပြစ်ရှာလိုသောသူများသည် ယင်းသည့်ကိစ္စကို ယိုးမယ်ဖွဲ့ကာ ကလိမ်စေ့ငြမ်းဆင်ပြီး (မပြောစကောင်း) (တမန်တော်မြတ်) "မုဟမ္မဒ်သည် အတိတ်ခေတ် ကျမ်းစာများကို ရွတ်ဖတ်၍ မှတ်သားထားခဲ့ဟန်ရှိသည်။ ထိုသည့် မှတ်သားချက်များကိုပင်၊ ယခုမိမိ၏ အသုံးအနှုန်းဖြင့် ပြောင်းလဲသုံးနှုံးကာ တရားဓမ္မဟောကြားနေဟန်ရှိသည်" စသည်ဖြင့် ဒွိဟသံသယ ဖြစ်လာကြပေမည်။ ယခုမူ ယင်းသို့ ဒွိဟသံသယဖြစ်ရန် အကြောင်းပင် မရှိတော့ပြီ။

တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)သည် 'အွမ်မီ' ဖြစ်တော်မူခဲ့သည်။ စာမရေးတတ်၊ မဖတ်တတ်၊ သို့ပါလျက် အတိတ်တွင်လည်း ကမ္ဘာနှင့်အဝှန်း မစွမ်းနိုင်ခဲ့သော၊ ယခုပစ္စုပ္ပန်တွင်လည်း မစွမ်းနိုင်သော၊ အနာဂတ်တွင်လည်း အလျင်းပြုစွမ်းနိုင်မည်မဟုတ်သော ကုရ်အာန်ကျမ်းမြတ်ကို ယူဆောင်လာခဲ့တော်မူခြင်းကို ထောက်ရှုခြင်းအားဖြင့် ကုရ်အာန်ကျမ်းမြတ်သည် တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်) ဖန်တီးထားတော်မူသော ကျမ်းမဟုတ်ကြောင်း အလ္လာဟ်အရှင်မြတ်၏ အာယတ်တော်များသာလျှင်ဖြစ်ကြောင်း ကောင်းစွာသိရှိနိုင်ပေသည်။

ဤအကြောင်းနှင့် စပ်လျဉ်း၍ ကုရ်အာန်(၂:၂။ ၂:၂၃-၂၄။ ၁၆:၁၀၃။ ၂၅:၄-၆)တွင် အကျယ်ဖွင့်ဆိုရေးသားခဲ့ပေပြီ။

⑴ ဤအာယတ်တော်တွင် **(အလ္လဇီန အူတုလ်အစ်လ်မ)** 'အသိပညာ ချီးမြှင့်ခြင်းခံရသော ပုဂ္ဂိုလ်များ'ဟူသည် အဆိုတစ်ရပ်အရ မုစ်လင်မ်များကို ဆိုလိုသည်။ ဤယူဆချက်အရ 'ကုရ်အာန် ကျမ်းမြတ်သည် ဟာဖစ်ဇ်၊ ➤➤

وَقَالُوْا لَوْلَآ اُنْزِلَ عَلَيْهِ اٰيٰتٌ مِّنْ رَّبِّهٖ ؕ قُلْ اِنَّمَا الْاٰيٰتُ عِنْدَ اللّٰهِ ؕ وَاِنَّمَاۤ اَنَا نَذِيْرٌ مُّبِيْنٌ ﴿۵۰﴾

၅၀။ ထိုမှတပါး ၎င်းတို့က "အဘယ်ကြောင့် ဤ (တမန်တော်)၏အပေါ်၌ သက်သေလက္ခဏာများ ကျရောက်လာခြင်း မရှိပါသနည်း"ဟု ပြောဆိုကြကုန်၏။ (အို-နဗီတမန်တော်) အသင်သည် (၎င်းတို့အား) ပြောကြားပါလေ၊ (အချင်းတို့) သက်သေလက္ခဏာများသည် အလ္လာဟ်အရှင်မြတ်၏ လက်တော်တွင်း၌သာ ရှိကုန်၏။ စင်စစ်မှာကား ငါသည် ထင်ရှားစွာ *သတိပေးနှိုးဆော်သူ တစ်ဦးမျှသာ ဖြစ်ပေသည်။* [၁]

اَوَلَمْ يَكْفِهِمْ اَنَّاۤ اَنْزَلْنَا عَلَيْكَ الْكِتٰبَ يُتْلٰى عَلَيْهِمْ ؕ اِنَّ فِيْ ذٰلِكَ لَرَحْمَةً وَّذِكْرٰى لِقَوْمٍ يُّؤْمِنُوْنَ ﴿۵۱﴾

၅၁။ ငါအရှင်မြတ်သည် ၎င်းတို့၏ရှေ့ဝယ်ဖတ်ကြားခြင်းခံရလျက်ရှိသော (ကုရ်အာန်)ကျမ်းမြတ်ကို အသင့်အပေါ်၌ ချပေးသနားတော်မူခဲ့ခြင်းသည်ပင်လျှင် ၎င်းတို့အဖို့ လုံလောက်ပြီမဟုတ်ပါလော။ ဤသည့် (ကျမ်းမြတ်)၌ သက်ဝင်ယုံကြည်သူတို့အဖို့ ကရုဏာတော်သည်လည်းကောင်း၊ အဆုံးအမသည်လည်းကောင်း၊ အမှန်ပင် ရှိပေသည်။ [၂]

---

➤➤ ကာရီ၊ အာလင်မ် အစရှိသည့် မှစ်လင်မ် ပညာရှင်များ၏ ရင်များ၊ နှလုံးသားများတွင် အာယတ်တော်များနှင့်တကွ အနက်အဓိပ္ပာယ် အဖွင့်များပါ တည်ရှိနေသည်'ဟူ၏။ ဤကား အထင်အရှားပင်။ (အတိတ်ခေတ်များတွင် ကောင်းကင်ကျကျမ်းဂန်များကို အာဂုံဆောင်ထားလေ့မရှိခဲ့ပေ။ ကုရ်အာန်ကျမ်းမြတ်ကိုမူ စတင်ကျရောက်သည့်အချိန်မှစ၍ ခေတ်တိုင်းခေတ်တိုင်းတွင် အာဂုံဆောင်ထားသော 'ဟာဖစ်ဇ်'များသည် ထောင်ပေါင်းများစွာ ရှိနေကြသည်။ ယနေ့အဖို့မှာကား မြို့ရွာတိုင်းလိုလိုမှာပင် ဟာဖစ်ဇ်များကို တွေ့ရှိနိုင်ပေသည်။ ကုရ်အာန်ကျမ်းမြတ်ကို ထိန်းသိမ်းထားရန်အတွက် ဟာဖစ်ဇ်များသည်ပင် လုံလောက်ပေသည်။ ယခုမူ ကုရ်အာန်ကို စိတ်နှလုံးသားများ အပေါ်တွင်သာမက စက္ကူများပေါ်တွင် ပုံနှိပ်၍တမျိုး၊ အသံဖမ်းစက်ဖြင့် အသံဖမ်း၍တဖုံ၊ နည်းမျိုးစုံဖြင့် ထိန်းသိမ်းထားကြသည်ဖြစ်ရာ ကုရ်အာန်ကျမ်းမြတ်အဖို့ ပျောက်ကွယ်ရန်အကြောင်း အလျှင်းမရှိတော့ပြီ)။

(၁) အမှန်အားဖြင့် သက်သေလက္ခဏာတော်များသည် အလ္လာဟ်အရှင်မြတ်၏ လက်တော်တွင်း၌သာရှိသည်။ ထိုအရှင်မြတ်သည် မိမိစေလွှတ်တော်မူသော တမန်တော်မှန်ကန်ကြောင်း ထင်ရှားစေရန်အလို့ငှာ မိမိဆန္ဒတော်အတိုင်း အလိုရှိရာ သက်သေလက္ခဏာတော်ကို ပြသတော်မူသည်။ ကာဖိရ်များ တောင်းဆိုသမျှသော သက်သေလက္ခဏာကိုပင် ပြသရကောင်းစေဟူ၍ တာဝန်လည်းမရှိ၊ တမန်တော်တစ်ပါးအား ယုံကြည်မှုသည် ဤသည့်အချက်ပေါ်၌သာ တည်နေသည်လည်းမဟုတ်။ တမန်တော်၏တာဝန်မှာ မှန်ကန်ပွင့်လင်းစွာ ဟောကြားသတိပေးရန်သာ ဖြစ်ပေသည်။

قُلْ كَفَىٰ بِاللَّهِ بَيْنِي وَبَيْنَكُمْ شَهِيدًا ۖ يَعْلَمُ مَا فِي السَّمَاوَاتِ وَالْأَرْضِ ۗ وَالَّذِينَ آمَنُوا بِالْبَاطِلِ وَكَفَرُوا بِاللَّهِ أُولَٰئِكَ هُمُ الْخَاسِرُونَ ﴿٥٢﴾

၅၂။ (အို-နဗီတမန်တော်) အသင်သည် ပြောကြားပါလေ၊ "(အချင်းတို့) အလ္လာဟ်အရှင်မြတ်သည်ပင် ငါနှင့် အသင်တို့၏အကြား၌ သက်သေအဖြစ် လုံလောက်တော်မူ၏။ ထိုအရှင်မြတ်သည် မိုးကောင်းကင်များ၌ရှိသမျှတို့ကိုလည်းကောင်း၊ ပထဝီမြေ၌ ရှိသမျှတို့ကိုလည်းကောင်း၊ ကောင်းစွာ သိရှိတော်မူ၏။ သို့ရာတွင် အမှားကို ယုံကြည်လက်ခံ၍ အလ္လာဟ်အရှင်မြတ်အား ငြင်းပယ်ကြသော သူတို့မှာမူကား ၎င်းတို့သည်သာလျှင် ဆုံးရှုံးပျက်စီးသူများ ဖြစ်ကြပေသတည်း"။

وَيَسْتَعْجِلُونَكَ بِالْعَذَابِ ۚ وَلَوْلَا أَجَلٌ مُسَمًّى لَجَاءَهُمُ الْعَذَابُ ۚ وَلَيَأْتِيَنَّهُمْ بَغْتَةً وَهُمْ لَا يَشْعُرُونَ ﴿٥٣﴾

၅၃။ (အို-နဗီတမန်တော်) စေန်စင်စစ် ၎င်းတို့သည် ပြစ်ဒဏ်နှင့်စပ်လျဉ်း၍ အသင့်ထံတွင် အဆောတလျင် တောင်းဆိုကြကုန်၏။ သို့ရာတွင် အကယ်၍သာ ကာလအပိုင်းအခြားတစ်ခုသည် သတ်မှတ်ပြဋ္ဌာန်းပြီး မဖြစ်ခဲ့ပါလျှင် ပြစ်ဒဏ်သည် ၎င်းတို့ထံ မုချ ဆိုက်ရောက်ခဲ့ပြီးဖြစ်ပေမည်။ စင်စစ်သော်ကား ထိုပြစ်ဒဏ်သည် ၎င်းတို့ထံ ရုတ်တရက်မုချ ဆိုက်ရောက်လာမည်ဖြစ်၏။ ၎င်းတို့သည် (အလျှင်း) သိရှိလိုက်ကြမည်ပင် မဟုတ်ပေ။ [၁]

---

(၂) အလ္လာဟ်အရှင်မြတ်သည် တမန်တော် (ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်) အပေါ်သို့ ကုရ်အာန်ကျမ်းမြတ်ကို ချပေးထားတော်မူခဲ့သည်။ ထိုကျမ်းမြတ်သည် နေ့ညမပြတ် ဖတ်ကြားလျက်ရှိသည်။ ယုံကြည်သူများအဖို့ ကုရ်အာန်ကျမ်းမြတ်သည် ကရုဏာလည်းမည်သည်၊ အဆုံးအမလည်း မည်သည်။ ကုရ်အာန်ကျမ်းမြတ်သည် ထာဝစဉ်တည်ရှိနေမည်။ ထာဝစဉ်အကျိုး သက်ရောက်စေမည့် အကြီးဆုံး သက်သေလက္ခဏာတော် တစ်ပါးပင်ဖြစ်သည်။ သက်သေလက္ခဏာ တောင်းဆိုကြသော သူများအဖို့ ဤကုရ်အာန်ကျမ်းမြတ်သည် ကောင်းစွာ လုံလောက်ပေသည်။

(၁) အပြစ်ဒဏ်ကို အလျင်စလို တောင်းဆိုနေကြသော ကာဖိရ်များသည် ပူပင်ကြရန်မလို၊ အရာရာသည် သူ့အချိန်နှင့်သူ ဖြစ်ပေါ်လာသည်သာ။ အချိန်ကျက ပြစ်ဒဏ်သည် ရုတ်တရက် ဆိုက်ရောက်လာပေမည်၊ ထိုအခါ ကာဖိရ်များသည် ပြစ်ဒဏ်အကြောင်း ကောင်းကောင်း သိသွားကြပေမည်။

يَسْتَعْجِلُونَكَ بِالْعَذَابِ وَإِنَّ جَهَنَّمَ لَمُحِيطَةٌ بِالْكَافِرِينَ ﴿٥٤﴾

၅၄။ ၎င်းတို့သည် အသင့်ထံတွင် ပြစ်ဒဏ်ကို အဆောတလျင် တောင်းဆိုကြကုန်၏။ ၎င်းပြင် ဧကန် မလွဲ 'ဂျဟန္နမ်' ငရဲဘုံသည် 'ကာဖိရ်' သွေဖည် ငြင်းပယ်သောသူတို့အား ဝန်းရံလျက်ပင်ရှိပေသည်။

يَوْمَ يَغْشَاهُمُ الْعَذَابُ مِنْ فَوْقِهِمْ وَمِنْ تَحْتِ أَرْجُلِهِمْ وَيَقُولُ ذُوقُوا مَا كُنْتُمْ تَعْمَلُونَ ﴿٥٥﴾

၅၅။ အကြင်နေ့တွင် ပြစ်ဒဏ်သည် ထိုသူတို့အား၊ ထိုသူတို့၏အထက်မှလည်းကောင်း၊ ထိုသူတို့၏ ခြေများအောက်မှလည်းကောင်း၊ (အဖက်ဖက်မှ) ဖုံးလွှမ်းဝန်းရံလျက် ရှိချေမည်။ ၎င်းပြင် ထိုအရှင်မြတ် က (၎င်းတို့အား) 'အသင်တို့သည် မိမိတို့ ကျင့်မှု ပြုလုပ်လျက် ရှိခဲ့ကြသည့် (ပြစ်မှုဒုစရိုက်)များ၏ အရသာကို မြည်းစမ်းကြကုန်လော့'ဟု မိန့်ကြားတော် မူအံ့သတည်း။

يَا عِبَادِيَ الَّذِينَ آمَنُوا إِنَّ أَرْضِي وَاسِعَةٌ فَإِيَّايَ فَاعْبُدُونِ ﴿٥٦﴾

၅၆။ အို-မုအ်မင်န် သက်ဝင် ယုံကြည်ကြကုန်သော ငါအရှင်မြတ်၏ ကျွန်အပေါင်းတို့၊ ဧကန်စင်စစ် ငါ အရှင်မြတ်၏ ကမ္ဘာမြေသည် လွန်စွာကျယ်ဝန်းလှပေ သည်။ သို့ဖြစ်ပေရာ အသင်တို့သည် ငါအရှင်မြတ် အားသာ ဆည်းကပ်ကိုးကွယ်ကြလေကုန်။

كُلُّ نَفْسٍ ذَائِقَةُ الْمَوْتِ ثُمَّ إِلَيْنَا تُرْجَعُونَ ﴿٥٧﴾

၅၇။ သက်ရှိသတ္တဝါတိုင်းသည် 'မရဏ' သေခြင်း တရား၏အရသာကို မြည်းစမ်းကြရမည်သာတည်း။ ထို့နောက် အသင်တို့သည် ငါအရှင်မြတ်အထံတော် သို့ပင် ပြန်လည်ပို့ဆောင်ခြင်းကို ခံကြရပေမည်။ [၁]

---

(၁) သာသနာရေး မလွတ်လပ်က တိုင်းပြည်ကိုပင် စွန့်ရမည်သာ။

အကယ်၍ ကာဖိရ်၊ မုရှ်ရစ်က်များ၏ မတရား ဖိနှိပ်ချုပ်ချယ်မှုများကြောင့် မုစ်လင်မ်တို့သည် အစ္စလာမ်သာသနာရေးများကို လွတ်လပ်စွာ မကျင့်သုံးနိုင်ကြလျှင် ယင်းသို့ ဓမ္မန္တရာယ်များပြားသော သာသနာရေး လွတ်လပ်မှုမရှိသောတိုင်းပြည်တွင် နေထိုင်ရန်မလိုပေ။ အလ္လာဟ်အရှင်မြတ်၏ ကမ္ဘာမြေကြီးသည် ကျယ်ဝန်းလှ သည်။ တိုင်းတပါးသို့ ရွှေ့ပြောင်းနေထိုင်ပြီးလျှင် သာသနာရေးရာများကို လွတ်လပ်စွာ ကျင့်သုံးကြရပေမည်၊ ➢➢

وَالَّذِيْنَ اٰمَنُوْا وَعَمِلُوا الصّٰلِحٰتِ لَنُبَوِّئَنَّهُمْ مِّنَ الْجَنَّةِ غُرَفًا تَجْرِيْ مِنْ تَحْتِهَا الْاَنْهٰرُ خٰلِدِيْنَ فِيْهَا ۚ نِعْمَ اَجْرُ الْعٰمِلِيْنَ ﴿٥٨﴾

၅၈။ သို့ရာတွင် 'အီမာန်' သက်ဝင်ယုံကြည်ပြီး ကောင်းမြတ်သောအကျင့်သီလများကို ကျင့်မှုဆောက်တည်ကြကုန်သောသူတို့မှာမူကား အမှန်ပင် ငါအရှင်မြတ်သည် ၎င်းတို့အား ဂျန္နတ်သုခဘုံ၌ မြင့်စွင့်လှစွာသော အဆောင်များတွင် နေရာချပေးတော်မူမည်။ ယင်းအဆောင်များ၏အောက်၌ ရေချောင်းများသည် စီးတွေလျက် ရှိကြပေမည်။ (၎င်းတို့သည်) ယင်းအဆောင်များတွင် အမြဲထာဝစဉ် နေထိုင်စံမြန်းကြပေမည်။ ပင်ပန်းကြီးစွာ လုပ်ကိုင်ဆောင်ရွက်ခဲ့ကြသော (သူတော်ကောင်း)တို့၏ အကျိုးကား လွန်စွာကောင်းမြတ်လှပါဘိတကား။

الَّذِيْنَ صَبَرُوْا وَعَلٰى رَبِّهِمْ يَتَوَكَّلُوْنَ ﴿٥٩﴾

၅၉။ အကြင်(ပင်ပန်းကြီးစွာ လုပ်ကိုင်ဆောင်ခဲ့ကြ)သူတို့သည် (မုရှ်ရစ်က်တို့၏ နှိပ်စက်ညှဉ်းပန်းခြင်းနှင့်စပ်လျဉ်း၍လည်းကောင်း၊ အစ္စလာမ်သာသနာတော်ထွန်းကားစေခြင်းငှာ မိမိတို့၏ အိုးအိမ် စည်းစိမ်ခပ်သိမ်းတို့ကို စွန့်၍ ထွက်ခွာသွားကြရသည်နှင့်စပ်လျဉ်း၍လည်းကောင်း၊) သည်းခံခြင်းတရား ထားရှိခဲ့ကြကုန်၏။ ထိုမှတပါး ၎င်းတို့သည် မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်အပေါ်၌ ယုံပုံလွှဲအပ်ကြကုန်၏။

---

➢➢ တိုင်းတပါးသို့ ရွှေ့ပြောင်းနေထိုင်ကြရသဖြင့် မိမိတို့၏တိုင်းပြည်၊ မိမိတို့၏သားချင်းများ၊ မိတ်ဆွေသင်္ဂဟများ၊ အိုးအိမ်၊ တိုက်တာ ဂေဟာများ၊ ဥစ္စာပစ္စည်းများနှင့် ကင်းကွာကြရသည့်အတွက် သံယောဇဉ်ငြိကာ စိတ်နှလုံး မချမ်းမသာဖြစ်ကြမည်မှာ လူ့သဘာဝပင်။ သို့တစေလည်း ယင်းသည့်အရာများသည် ထာဝစဉ်တည်ရှိနေကြမည့် အရာများမဟုတ်၊ ယင်းသည့်အရာများနှင့် သံယောဇဉ်မဖြတ်လိုသော်လည်း တစ်နေ့မဟုတ်တစ်နေ့ ဖြတ်ရမည်သာဖြစ်သည်။ အဘယ်ကြောင့်ဆိုသော် လူတိုင်းသည် တစ်နေ့ သေကြရမည်သာ၊ မိမိ၏တိုင်းပြည်ကို သာမက ဤကမ္ဘာကိုပင် စွန့်ခွာကြရမည်သာ၊ အလ္လာဟ်အရှင်မြတ်ထံတော်ပါးသို့ ပြန်ကြရမည်သာ၊ သံယောဇဉ်အားလုံး ဖြတ်ကြရမည်သာ။

وَكَاَيِّنْ مِّنْ دَآبَّةٍ لَّا تَحْمِلُ رِزْقَهَا ۖ اللّٰهُ يَرْزُقُهَا وَاِيَّاكُمْ ۖ وَهُوَ السَّمِيْعُ الْعَلِيْمُ ﴿٦٠﴾

၆၀။ စင်စစ်သော်ကား မြောက်မြားစွာသောတိရစ္ဆာန်တို့မှာ မိမိတို့၏စားနပ်ရိက္ခာကို သယ်ပိုးထားကြသည်မဟုတ်ပေ။ အလ္လာဟ်အရှင်မြတ်သည်ပင် ထိုတိရစ္ဆာန်တို့ကိုလည်းကောင်း၊ အသင်တို့အားလည်းကောင်း၊ စားနပ်ရိက္ခာကို ပေးသနားတော်မူ၏။

စင်စစ်သော်ကား ထိုအရှင်မြတ်သည် အလုံးစုံတို့ကို အကြွင်းမဲ့ကြားတော်မူသော၊ သိတော်မူသောအရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

وَلَئِنْ سَاَلْتَهُمْ مَّنْ خَلَقَ السَّمٰوٰتِ وَالْاَرْضَ وَسَخَّرَ الشَّمْسَ وَالْقَمَرَ لَيَقُوْلُنَّ اللّٰهُ ۚ فَاَنّٰى يُؤْفَكُوْنَ ﴿٦١﴾

၆၁။ စင်စစ်သော်ကား အကယ်၍ အသင်သည် ထိုသူတို့အား 'မည်သူသည် မိုးကောင်းကင်များကိုလည်းကောင်း၊ ပထဝီမြေကိုလည်းကောင်း၊ ဖန်ဆင်းခဲ့သနည်း၊ ထိုနည်းတူစွာ မည်သူသည် နေကိုလည်းကောင်း၊ လကိုလည်းကောင်း၊ ပိုင်နိုင်စွာ ခိုင်းစေသနည်း' ဟု မေးမြန်းခဲ့ပါလျှင် ၎င်းတို့သည် 'အလ္လာဟ်အရှင်မြတ်' ဟူ၍ပင် ဧကန်မလွဲ ပြောဆိုကြပေမည်။ သို့ပါလျက် ၎င်းတို့သည် (အလ္လာဟ်အရှင်မြတ် တစ်ဆူတည်း ဖြစ်တော်မူကြောင်းကို ယုံကြည်လက်ခံခြင်း မပြုဘဲ) အဘယ်သို့ လှည့်သွားကုန်ကြသနည်း။

اَللّٰهُ يَبْسُطُ الرِّزْقَ لِمَنْ يَّشَآءُ مِنْ عِبَادِهٖ وَيَقْدِرُ لَهٗ ۗ اِنَّ اللّٰهَ بِكُلِّ شَيْءٍ عَلِيْمٌ ﴿٦٢﴾

၆၂။ အလ္လာဟ်အရှင်မြတ်သည် မိမိအလိုရှိတော်မူသောသူအား စားနပ်ရိက္ခာကို ကျယ်ဝန်းစွာ ချီးမြှင့်ပေးသနားတော်မူ၏။ ထိုနည်းတူစွာ ထို အလ္လာဟ်အရှင်မြတ်သည် မိမိအလိုရှိတော်မူသောသူအား တိုင်းထွာ၍ပေးတော်မူ၏။ ဧကန်စင်စစ် အလ္လာဟ်အရှင်မြတ်သည် အရာခပ်သိမ်းတို့ကို အကြွင်းမဲ့သိတော်မူသောအရှင်မြတ်ပင်ဖြစ်တော်မူလေသည်။

وَلَئِنْ سَأَلْتَهُمْ مَّنْ نَّزَّلَ مِنَ السَّمَاۤءِ مَاۤءً فَاَحْيَا بِهِ الْاَرْضَ مِنْۢ بَعْدِ مَوْتِهَا لَيَقُوْلُنَّ اللّٰهُ ۗ قُلِ الْحَمْدُ لِلّٰهِ ۗ بَلْ اَكْثَرُهُمْ لَا يَعْقِلُوْنَ ﴿٦٣﴾

၆၃။ ထိုမှတပါး အကယ်၍ အသင်သည် ၎င်းတို့အား "မည်သူသည် မိုးကောင်းကင်မှမိုးရေကို ရွာသွန်းစေသနည်း၊ တဖန် သေပြီးသော (ဝါ) ခြောက်သွေ့လျက်ရှိပြီးနောက် ပထဝီမြေကို ထိုမိုးမြေဖြင့် မည်သူ ရှင်စေခဲ့သနည်း၊ (ဝါ) စိမ်းလန်းစိုပြေစေခဲ့သနည်း၊" ဟု မေးမြန်းခဲ့ပါလျှင်လည်း ၎င်းတို့သည် "အလ္လာဟ် အရှင်မြတ်" ဟူ၍ပင် ဧကန်မလွဲ ပြောဆိုကြပေမည်။ အို-နဗီတမန်တော် အသင်သည်ပြောပါလေ။ (အချင်းတို့၊) ချီးမွမ်းထောပနာအပေါင်းတို့ကို အလ္လာဟ် အရှင်မြတ်သာလျှင် ခံယူထိုက်တော်မူ၏။ သို့ရာတွင် ၎င်းတို့အနက် အများဆုံးသောသူတို့မှာမူကား အသိဉာဏ်ဖြင့် ဆင်ခြင်သုံးသပ်ကြသည် မဟုတ်ပေ။

وَمَا هٰذِهِ الْحَيٰوةُ الدُّنْيَاۤ اِلَّا لَهْوٌ وَّلَعِبٌ ۗ وَاِنَّ الدَّارَ الْاٰخِرَةَ لَهِيَ الْحَيَوَانُ ۘ لَوْ كَانُوْا يَعْلَمُوْنَ ﴿٦٤﴾

၆၄။ စင်စစ် ဤမျက်မှောက် လောကီဘဝသည် ပျော်မြူးဖွယ်ရာနှင့် ကစားခုန်စားဖွယ်ရာမှတပါး အခြားမဟုတ်ပြီ။ အမှန်မှာ နောင်တမလွန်ဘဝသည် သာလျှင် စစ်မှန်သော အစဉ်ထာဝရရှင်ခြင်း ဖြစ်ပေသည်။ (ဤသည်ကို)၎င်းတို့သိရှိကြလျှင် ကောင်းလေစွတကား၊[၁]

(၁) **ပစ္စက္ခနှင့် နောင်တမလွန်ဘဝ။**

ဤပစ္စက္ခဘဝသည် ပျော်ရွှင်မြူးတူးဖွယ်ရာ၊ ကစားဖွယ်ရာမျှသာဖြစ်သည်။ အရိပ်ပမာ သင်္ခါရမျှသာဖြစ်သည်။ နောင်တမလွန် ဘဝသည်သာလျှင် စစ်မှန်သော၊ ထာဝရ တည်ရှိမည်ဖြစ်သော အဓိကဘဝဖြစ်သည်။ ဤခေတ္တခဏ သင်္ခါရမျှသော ပစ္စက္ခဘဝတွင် နစ်မွန်းခြင်းကြီးမက နစ်မွန်း၍ ထာဝရတည်ရှိမည်ဖြစ်သော အဓိကဖြစ်သော နောင်တမလွန်ဘဝကို လျစ်လျူပြုထားခြင်းမှာ အသိဉာဏ်ကင်းမဲ့ခြင်းပင်။

ဤပစ္စက္ခနှင့် နောင်တမလွန်ဘဝ၏ အခြေအနေအမှန်ကို ကောင်းစွာ စဉ်းစားဆင်ခြင် သိမြင်သဘောပေါက်သူများသည် လောကီရေးရာများတွင် နစ်မွန်း၍နေကြမည် မဟုတ်သည်သာမက ဤပစ္စက္ခဘဝမှာပင် နေထိုင်၍ နောင်တမလွန်ဘဝ၏ ကောင်းစားရေးအတွက် ကြိုတင်စိုင်းပြင်းကြပေမည်။ အသင့်ပြင်ဆင်ကြပေမည်။

အကယ်၍ ဤပစ္စက္ခဘဝသည် သာသနာရေးရာများကို လိုက်နာကျင့်သုံးရန် အကြောင်းဖြစ်သွားပါက ဤသည့် ပျော်ရွှင်မြူးတူးဖွယ်ရာမျှ ဖြစ်သည့် လောကီသက်တမ်းသည်ပင် နောင်တမလွန်ဘဝ၏ အစိတ်အပိုင်း ဖြစ်သွားပေ မည်။ အကျိုးဆက်အားဖြင့် ဤပစ္စက္ခဘဝသည်လည်း နောင်တမလွန်ဘဝတွင် အကျုံးဝင်သွားပေမည်။ (ထာနဝီ၊ မာဂျိဒီ) ➤➤

၆၅။ စင်စစ် ၎င်းတို့သည် သင်္ဘော၌ စီးနင်းကြလေသောအခါ အလ္လာဟ်အရှင်မြတ်အားသာလျှင် စေတနာသဒ္ဓါဖြူစင်စွာနှင့် ဟစ်ခေါ်တ,သ ကြကုန်၏။ သို့ရာတွင် ထိုအရှင်မြတ်သည် ၎င်းတို့အား ကယ်တင်၍ ကုန်းမြေသို့ ဆောင်ကြဉ်းတော်မူသောအခါ ၎င်းတို့သည် ရုတ်တရက် ချက်ချင်းပင်လျှင် (အခြားအရာများကို ထိုအရှင်မြတ်နှင့်) တွဲဖက် နှိုင်းယှဉ်ကိုးကွယ်ကြကုန်၏။ ¹

فَإِذَا رَكِبُوا فِي الْفُلْكِ دَعَوُا اللَّهَ مُخْلِصِينَ لَهُ الدِّينَ فَلَمَّا نَجَّاهُمْ إِلَى الْبَرِّ إِذَا هُمْ يُشْرِكُونَ ﴿٦٥﴾

၆၆။ ၎င်းတို့သည် ငါအရှင်မြတ်မှ ၎င်းတို့အား ချီးမြှင့် ပေးသနားတော်မူခဲ့သော ကျေးဇူးတော်များကို ငြင်းပယ် ကျေးဇူးကန်းကြအံ့သောငှာ (တွဲဖက်ကိုးကွယ်မှုကို ပြုလုပ်ကြကုန်၏)။ သို့ဖြစ်ပေရာ ၎င်းတို့သည် ခေတ္တခဏ အကျိုးခံစားကြပါစေ၊ ထို့နောက်တွင်မူ မကြာမြင့်မီပင် ၎င်းတို့သည် သိရှိကြကုန်အံ့သတည်း။

لِيَكْفُرُوا بِمَا آتَيْنَاهُمْ وَلِيَتَمَتَّعُوا فَسَوْفَ يَعْلَمُونَ ﴿٦٦﴾

---

➤➤ ဤအကြောင်းနှင့် စပ်လျဉ်း၍ ကုရ်အာန်(၆း၃၂)တွင်လည်းကောင်း၊ ကုရ်အာန်(၆း၇၀)တွင်လည်းကောင်း၊ ကုရ်အာန်(၇း၅၁)တွင် လည်းကောင်း ကြည့်ရှုပါကုန်။

① **ဒုက္ခဖြစ်မှ အလ္လာဟ်,တ။**

လူသားများသည် လောကီရေးရာများတွင်နစ်မွန်း၍ အလ္လာဟ်အရှင်မြတ်အား မမေ့ကြရာ၊ နောင်တမလွန်ဘဝကို လျစ်လျူမပြုကြရာ။ သို့တစေလည်း များသောအားဖြင့် လူသားတို့သည် ဒုက္ခဖြစ်မှသာလျှင် အလ္လာဟ်အရှင်မြတ်အား တ,သကြသည်။ သမုဒ္ဒရာတွင် သင်္ဘောလေမုန်တိုင်းမိ၍ ခိုကိုးရာမဲ့ဖြစ်ကြသောအခါမှ စိတ်စေတနာဖြူစင်စွာဖြင့် တစိတ်တလက်တည်း အလ္လာဟ်အရှင်မြတ်အား တ,သကြယေသည်။ ထို့နောက် အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်နှင့် ရေဘေးမှလွတ်မြောက်၍ ကုန်းပေါ်၌ ခြေချမိပြန်သော် 'ခွေးမြီးကောက် ကျည်တောက်စွပ်' ဆိုသောစကားကဲ့သို့ ယခင်အတိုင်းပင် ကျေးဇူးကန်းကြပြန်သည်။ ယှဉ်တွဲကိုးကွယ်ကြပြန်သည်။

ကျေးဇူးကန်းများသည် မိမိတို့၏ စိတ်အလိုလိုက်ကာ လောကီစည်းစိမ်များကို ခေတ္တခဏ စံစားနေနိုင်ကြမည်ဖြစ်သော်လည်း မကြာမီအတွင်း မိမိတို့၏ ကျေးဇူးကန်းမှု၊ သွေဖည်ဆန့်ကျင်မှု၊ ယှဉ်တွဲကိုးကွယ်မှုများ၏အကျိုးသည် အဘယ်မျှဆိုးရွားသည်ကို သိရှိကြရတော့မည် ဖြစ်သည်တည်း။ (အွတ်ဆ်မာနီ)

ဤအကြောင်းနှင့်ဆက်စပ်၍ ကုရ်အာန် (၁၀း၂၁-၂၃) (၁၇း၆၇-၆၉) (၃၁း၃၃-၃၄)တို့ကို ရှုပါကုန်။

أَوَلَمْ يَرَوْا أَنَّا جَعَلْنَا حَرَمًا آمِنًا
وَيُتَخَطَّفُ النَّاسُ مِنْ حَوْلِهِمْ ۚ
أَفَبِالْبَاطِلِ يُؤْمِنُونَ وَبِنِعْمَةِ
اللَّهِ يَكْفُرُونَ ﴿٦٧﴾

၆၇။ ကေန်မလွဲ ငါအရှင်မြတ်သည် (၎င်းတို့ နေထိုင်လျက်ရှိကြသောမက္ကာဟ်မြို့တော်ကို) ဘေးရန်ကင်းငြိမ်းသော 'ဟရမ်' ပြုလုပ်တော်မူခဲ့သည်ကို ၎င်းတို့သည် မတွေ့မမြင်ခဲ့ကြလေသလော။ စင်စစ်သော်ကား ၎င်းတို့၏ပတ်ဝန်းကျင်၌ လူတို့သည် လုယက်တိုက်ခိုက် (သတ်ဖြတ်)ခြင်းကို ခံနေခဲ့ကြရကုန်၏။ သို့ပါလျက် ၎င်းတို့သည် အမှားကိုယုံကြည်လက်ခံ၍ အလ္လာဟ်အရှင်မြတ်၏ကျေးဇူးတော်များကို ငြင်းပယ် ကျေးဇူးကန်းကြလေသလော။ [၁]

وَمَنْ أَظْلَمُ مِمَّنِ افْتَرَىٰ عَلَى
اللَّهِ كَذِبًا أَوْ كَذَّبَ بِالْحَقِّ
لَمَّا جَاءَهُ ۚ أَلَيْسَ فِي جَهَنَّمَ
مَثْوًى لِلْكَافِرِينَ ﴿٦٨﴾

၆၈။ အလ္လာဟ်အရှင်မြတ်အပေါ်၌ မုသားကို လီဆယ်၍စွပ်စွဲသော၊ သို့မဟုတ် မိမိထံ အမှန်တရား ရောက်ရှိလာသောအခါ ယင်းအမှန်တရားကို မဟုတ်မမှန်ဟု စွပ်စွဲငြင်းပယ်သောသူထက် သာလွန်မတရားသောသူကား မည်သူရှိနည်း၊ 'ကာဖိရ်' သွေဖည်ငြင်းပယ်ကြကုန်သောသူတို့၏ နေထိုင်ရာဌာနသည် ဂျဟန္နမ်ငရဲဘုံ၌ပင်ရှိမည် မဟုတ်ပါလော။

---

(၁) မက္ကာမြို့သား ကာဖိရ်မုရှ်ရစ်က်များက အကယ်၍ ကျွန်ုပ်တို့သည် အစ္စလာမ်ကို လက်ခံနာယူကျင့်မူကြပါက ကျန်အရပ် တမျိုးသားလုံးသည် ကျွန်ုပ်တို့အား ရန်မူကြမည်။ လုယက်တိုက်ခိုက်ကြမည်။ တိုင်းပြည်မှ နှင်ထုတ်ကြမည် စသည်ဖြင့် ဆင်ခြေကန်ခဲ့ကြ၏။ ဤကားမမှန်သော အကြောင်းပြခြင်းသာ။ အဘယ်ကြောင့်ဆိုသော် အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့အား ရှေးဦးမဆွကပင် လုယက်တိုက်ခိုက် သတ်ဖြတ်လျက်ရှိသော ပတ်ဝန်းကျင်၊ ဘေးရန်ခပ်သိမ်း ကင်းငြိမ်းသော 'ဟရမ်' ကျောင်းတော်ပရဝဏ်၌ ထိန်းသိမ်းစောင့်ရှောက်ထားတော်မူခဲ့ပေသည်။ ထိုအရှင်မြတ်သည် ၎င်းတို့အား ကာဖိရ်၊ မုရှ်ရစ်က်ဖြစ်နေခဲ့ ကြစဉ်မှာပင် ထိန်းသိမ်းတော်မူခဲ့ပေရာ အစ္စလာမ်ကို လက်ခံနာယူ ကျင့်မူလာခဲ့ကြသည့် အခါတွင်မူ ပို၍ပင် ထိန်းသိမ်းစောင့်ရှောက်တော်မူမည်မဟုတ်ပါလော၊ အမှန်မှာ ၎င်းတို့သည် ကျေးဇူးရှင်မဟုတ်သော အဘယ်တစ်စုံတစ်ရာကို မပြုစွမ်းနိုင်သော ၎င်းတို့၏ ကိုးကွယ်ရာများကိုသာ ကျေးဇူးဆပ်နေကြပေသည်။ အမှန်တကယ် ကျေးဇူးတော်ရှင် ဖြစ်တော်မူသော အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်များကိုမူ ငြင်းပယ်နေကြပေသည်။

ဤအကြောင်းနှင့်စပ်လျဉ်း၍ ကုရ်အာန် (၂၈း၅၇)ကို လည်းကောင်း၊ (၁၀၆း၁-၄)ကို လည်းကောင်း ရှုပါကုန်။

وَالَّذِينَ جَٰهَدُوا۟ فِينَا لَنَهْدِيَنَّهُمْ سُبُلَنَا ۚ وَإِنَّ ٱللَّهَ لَمَعَ ٱلْمُحْسِنِينَ ﴿٦٩﴾

၆၉။ သို့ရာတွင် ငါအရှင်မြတ်၏ လမ်းတော်၌ သက်စွန့်ကြိုးပမ်းဆောင်ရွက်ကြကုန်သောသူတို့မှာ [1] မူကား ငါအရှင်မြတ်သည် မိမိလမ်းများကို ၎င်းတို့အား မချွတ်မလွဲ ပြသတော်မူပေမည်။ ထိုမှတပါး မလွဲဧကန် အလ္လာဟ်အရှင်မြတ်သည် သူတော်ကောင်းတို့နှင့် အတူတကွ အမှန်ပင်ရှိတော်မူပေသတည်း။ [2]

---

① **<u>အလ္လာဟ်၏လမ်း၌ ကြိုးပမ်းက အလ္လာဟ်လမ်းပြမည်။</u>**

အလ္လာဟ်အရှင်မြတ်၏ လမ်းတော်၌ ကြိုးပမ်းဆောင်ရွက်ကြကုန်သော၊ ဒုက္ခခံကြကုန်သော (မုဂျာဟာဒဟ်) တရားအားထုတ်ကြကုန်သော ပုဂ္ဂိုလ်မွန်တို့အား ထိုအရှင်မြတ်သည် မိမိထံတော်ပါးသို့ ချဉ်းကပ်နိုင်ရန် ထူးခြားလှသည့် ဉာဏ်အလင်းတမျိုးကို ချီးမြှင့်တော်မူသည်။ မိမိနှင့်နီးစပ်မှု၊ မိမိ၏နှစ်သက်မှုနှင့် ဂျန္နတ်၏ လမ်းများကို မြင်စေတော်မူသည်။ ထိုအရှင်မြတ်၏ လမ်းတော်၌ (မုဂျာဟာဒဟ်) တရားအားထုတ်သည်နှင့်အမျှ ထိုဉာဏ်အလင်းသည် ပို၍ပို၍ ပွင့်လင်းလာပေသည်။ ထိုသည့်ဉာဏ်အလင်း ပွင့်လင်းလာသည်နှင့်အမျှ ထိုပုဂ္ဂိုလ်မွန်တို့သည် နက်နဲသိမ်မွေ့လှသော အမှန်တရားများကို သိရှိလာကြပေသည်။ သူတပါးတို့ မတွေးမိသော အရာများကိုပင် မျက်ဝါးထင်ထင် တွေ့မြင်လာကြပေသည်။ (အွတ်ဆ်မာနီ)

② 'မုချဧကန် အလ္လာဟ်အရှင်မြတ်သည် သူတော်ကောင်းများနှင့် အတူတကွရှိတော်မူသည်' ဟူသည် 'ထိုအရှင်မြတ်သည် သူတော်ကောင်းတို့အား ကာကွယ်ထိန်းသိမ်း စောင့်ရှောက်ကူညီတော် မူသည်'ဟူ၏။

(ကြည့်-အွတ်ဆ်မာနီ။ ရူဟ်၊ အဗူစုအူဒ်)။

မရ်ယမ်သခင်မ၏ သားတော် တမန်တော်အီစာက (ထိုသခင့်အပေါ်၌ ကောင်းချီးချမ်းသာအဖြာဖြာ သက်ရောက်ပါစေ) မိန့်ကြားတော်မူခဲ့သည်မှာ 'အိဟ်စာန်' ဟူသည် မိမိအား မကောင်းပြုသူအပေါ်၌ အကောင်းပြုခြင်းသာဖြစ်သည်။ မိမိအား အကောင်းပြုသူအပေါ်၌ အကောင်းပြုခြင်းသည် 'အိဟ်စာန်' မဟုတ်ချေ။

(အိဗ်နုကဆီရ်)၊ အ-၃။ စ-၄၂၂။

# ရောမနိုင်ငံကဏ္ဍ

سُوْرَةُ الرُّوْمِ

ဤကဏ္ဍသည် "အလ်ရူမ်" ရောမနိုင်ငံအကြောင်း ပါဝင်သော ကဏ္ဍဖြစ်၏။
မက္ကာမြို့တော်၌ ကျရောက်ခဲ့၏။
ဤကဏ္ဍတွင် (အာယတ်)တော် (၆၀)ပါး၊ (ရုကူအ်)အပိုဒ် (၆)ပိုဒ် အသီးသီးပါရှိ၏။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ

မပြတ်မစဲ သနားကြင်နာ ညှာတာတော်မူသော အနန္တကရုဏာတော်ရှင် ဖြစ်တော်မူသော အလ္လာဟ်အရှင်မြတ်၏ နာမံတော်ဖြင့် အစပြုပါ၏။

الٓمّٓ ①

၁။ အလစ်ဖ်၊ လာမ်၊ မီမ်။

غُلِبَتِ الرُّوْمُ ②

၂။ ရောမနိုင်ငံသားတို့သည် (စစ်ရေး)ရှုံးနိမ့်ကြရချေပြီ။ [၁]

فِيْٓ اَدْنَى الْاَرْضِ وَهُمْ مِّنْۢ بَعْدِ غَلَبِهِمْ سَيَغْلِبُوْنَ ③

၃။ (အရှေ့ဗျတိုင်းပြည်နှင့်)နီးကပ် ဆက်စပ်လျက်ရှိသောတိုင်းပြည်တွင်၊ သို့ရာတွင် ၎င်းတို့သည် မိမိတို့ ယခု(စစ်ရေး)ရှုံးနိမ့်ကြရပြီးနောက် မကြာမြင့်မီပင် ၎င်းတို့သည် အောင်နိုင်ကြပေမည်။

---

**(၁) ရောမနိုင်ငံသားတို့နှင့်ပတ်သက်၍ ကြိုတင်ဟောကြားချက်။**

ဤအာယတ်တော်တွင် ပါရှိသော 'ရူမ်'ဟူသည် ရှေးဟောင်းရောမနိုင်ငံ၏ အရှေ့ပိုင်းကိုဆိုလိုသည်။ ထိုအပိုင်းသည် ခရစ်သက္ကရာဇ်(၃၉၅)ခုနှစ်တွင် ရောမနိုင်ငံပြည်မကြီးနှင့် ကွဲကွာပြီး သီးသန့်နိုင်ငံတစ်ခု ဖြစ်သွားခဲ့ပေသည်။ ဤနိုင်ငံသည် ခရစ်သက္ကရာဇ် (၁၄၅၄)ခုနှစ်တိုင် နဆ္ဗ်ရာနီဘာသာဝင်တို့၏ စိုးမိုးအုပ်ချုပ်မှုအောက်တွင် တည်ရှိနေခဲ့ပေသည်။ ထို့နောက်တူရကီနိုင်ငံ၏ လက်အောက်သို့ ရောက်ရှိသွားခဲ့ပေသည်။ ဤနိုင်ငံ၏မြို့တော်မှာ (ရှေးအမည်)ကွတ်စတွန်တီနီယဟ် (ယခုအမည်) အစ္စတန်ဗူလ် ဖြစ်ပေသည်။ ဤနိုင်ငံ၏ရှေးအမည်မှာ 'ရောမသစ်' ဟူ၍လည်း ဖြစ်ခဲ့ပေသည်။ ဆီးရီးယားပြည်၊ ပယ်လက်စ်တိုင်းနှင့် (အာရှမိုင်းနားပြည်များ)သည် ဤနိုင်ငံတွင် အကျုံးဝင်ခဲ့ကြပေသည်။

ဤအာယတ်တော်တွင် ပါရှိသော "ဖီးအဒ်နလ်အရ်သွိ"တိုင်းပြည်အနီးတွင်ဟူသည့် အဆိုတစ်ရပ်အရ အာရေဗျတိုင်းပြည်နှင့် ဆက်စပ်လျက်ရှိသော ပြည်နယ်များ (ဝါ) ဆီးရီးယားပြည်၊ ပယ်လက်စ်တိုင်း ပြည်နယ်များကို ဆိုလိုသည်။ ➤➤

➤➤ ဤအာယတ်တော် ကျရောက်ခဲ့သည့်ခုနှစ်မှာ တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်) ဟိဂျ်ရတ်ပြုတော်မမူမီ(၆)နှစ်သို့မဟုတ်(၇)နှစ်၊ (ဝါ) ခရစ်သက္ကရာဇ်(၆၁၅)၊ သို့မဟုတ်(၆၁၆)နှင့် လုံးဝ ဆက်စပ်လျက်ရှိသည့် ခုနှစ် (ဝါ) ခရစ်သက္ကရာဇ် (၆၁၄)ခုနှစ်ဖြစ်သည်။ အဆိုပါခုနှစ်တွင် ရောမနိုင်ငံသား အဟ်လိကိတာဗ် နာဆွ်ရာနီဘာသာဝင်များသည် အီရာန် (ပါရှား) နိုင်ငံသား မဂျူစီများနှင့် စစ်ဖြစ်ရာတွင် မရှုမလှ စစ်ရေးရှုံးနိမ့်ခဲ့ကြရပေသည်။ ဤအာယတ်တော်တွင် ယင်းသည့် ဖြစ်ရပ်ကိုပင် ရည်ညွှန်းထားတော်မူသည်။ ကြည့်-မာဂျိဒီ၊(အုရ်ဒူ) အ-၅။ စ-၈၁၄။ အအ-၂။

ထိုခေတ်ထိုအခါတွင် ပါရှားနိုင်ငံနှင့် ရောမနိုင်ငံဟူ၍ အားအင်ကြီးမားသော နိုင်ငံကြီးနှစ်ခု ရှိခဲ့ပေသည်။ ထိုနိုင်ငံကြီး၂ခုသည် အချင်းချင်းမသင့်မြတ်ခဲ့ပေ။ ထိုနိုင်ငံကြီး၂ခုသည်(Encyclopaedia Britannica) တွင် ဖော်ပြပါရှိသည့်အတိုင်း ခရစ်သက္ကရာဇ် (၆၀၂)မှ(၆၁၄)အထိ အချင်းချင်း အကြီးအကျယ် တိုက်ခိုက်လျက် ရှိခဲ့ကြပေသည်။

ခရစ်သက္ကရာဇ် (၅၇၀)တွင် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်) မီးရှူးသန့်စင် ဖွားမြင်တော်မူခဲ့သည်။ ခရစ်သက္ကရာဇ်(၆၁၀)တွင် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစ္စလ္လမ်)သည် တမန်တော်ဂုဏ်ထူးဖြင့် ချီးမြှင့်တော်မူခြင်း ခံခဲ့ရပေသည်။ ရောမနိုင်ငံနှင့် ပါရှားနိုင်ငံတို့စပ်ကြား ဖြစ်ပွားနေသည့် စစ်ပွဲ၏သတင်းများသည် မက္ကာမြို့သားများထံသို့ ရောက်ရှိနေခဲ့ပေသည်။ ထိုသည့်အချိန်ပိုင်းအတွင်းမှာပင် မိမိတမန်တော်ဖြစ်ကြောင်း တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစ္စလ္လမ်)၏ ကြေညာမှုနှင့် အစ္စလာမ်၏ လှုပ်ရှားမှုများသည် မက္ကာမြို့သားများအဖို့ အဆိုပါစစ်သတင်းများတွင် ပိုမို၍ပင် စိတ်ဝင်စားဖွယ်ရာ ဖြစ်စေခဲ့လေသည်။

ပါရှားနိုင်ငံသား မဂျူစီများသည် မီးကိုးကွယ်ခဲ့ကြသည်။ ထို့အတွက် မက္ကာမြို့သား ကာဖိရ်များသည် ပါရှားနိုင်ငံသား မဂျူစီများကို ဘာသာအယူဝါဒအားဖြင့် မိမိတို့နှင့်နီးစပ်သည်ဟု ယူဆခဲ့ကြပေသည်။ ရောမနိုင်ငံသားများသည် နဆွ်ရာနီများဖြစ်ခဲ့ကြပေသည်။ နဆွ်ရာနီများသည် 'အဟ်လိကိတာဗ်' ကျမ်းဂန်ရသူများ ဖြစ်ခဲ့ကြပေသည်။ ထို့အတွက် မုစ်လင်မ်များသည် ရောမနိုင်ငံသား နဆွ်ရာနီများကို ဘာသာအယူဝါဒအားဖြင့် မိမိတို့နှင့် နီးစပ်သည်ဟု ယူဆခဲ့ကြပေသည်။ သို့ယူဆကြသည့်အလျောက် မက္ကာမြို့သားကာဖိရ်များသည် ပါရှားနိုင်ငံသားများ၏ စစ်ရေးသာမှုကို လိုလားခဲ့ကြပေသည်။ မုစ်လင်မ်များကမူ ရောမနိုင်ငံသားများ၏ စစ်ရေးသာမှုကို လိုလားခဲ့ကြပေသည်။

ပါရှားနိုင်ငံက စစ်ရေးသာသည့်သတင်းကို ကြားရသောအခါ မက္ကာမြို့သားကာဖိရ်များသည် ဝမ်းသာခဲ့ကြပေသည်။ ဤသည့်အချက်ကိုပင် မက္ကာမြို့သားကာဖိရ်များက ၎င်းတို့အဖို့ မုစ်လင်မ်များနှင့် ပြိုင်ဆိုင်တိုက်ခိုက်ရာတွင် အောင်ရိပ်အောင်နိမိတ်ဖြစ်သည်ဟူ၍ နိမိတ်ကောက်ခဲ့ကြပေသည်။ မုစ်လင်မ်တို့သည် မိမိတို့နှင့်ဘာသာအယူဝါဒ နီးစပ်သော ရောမနိုင်ငံသား နဆွ်ရာနီများ စစ်ရေးရှုံးနိမ့်ရသည့်အတွက် စိတ်မချမ်းမသာဖြစ်၍ နေခဲ့ကြလေသည်။ ထို့ပြင်တဝ မက္ကာမြို့သား ကာဖိရ်များ၏ စကားနာထိုးမှုများကိုလည်း ကြားနေခဲ့ကြရသည့်အတွက် ပို၍ပင် စိတ်ထိခိုက်နေခဲ့ကြလေသည်။

နောက်ဆုံး ခရစ်သက္ကရာဇ်(၆၁၄)ခုနှစ်တွင် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစ္စလ္လမ်) မီးရှူးသန့်စင် ဖွားမြင်တော်မူပြီးနောက် စန္ဒြမာသလ ထွက်ပေါ်ခြင်းဖြင့် ပိုင်းခြားသတ်မှတ်သော ခုနှစ်တွက်ချက်နည်းအရ (၄၅)နှစ်ခန့်တွင် (ဝါ) တမန်တော်မြတ်(ဆွာလ္လလ္လဟု အလိုင်ဟိဝစ္စလ္လမ်)သည် တမန်တော်ဂုဏ်ထူးဖြင့် ချီးမြှင့်တော်မူခြင်း ခံရပြီးနောက် (၅)နှစ်ခန့်တွင် ဒုတိယမြောက် ပါရှားဘုရင် ခွတ်ရိ(Chosroes) လက်ထက်၌ ➤➤

➤➤ ပါရှားနိုင်ငံသည် ရောမနိုင်ငံကို တိုက်ခိုက်၍ အပြတ်အသတ် ချေမှုန်းခဲ့လေသည်။

ရောမနိုင်ငံ၏ လက်အောက်နိုင်ငံများဖြစ်သည့် ဆီးရီးယား၊ အီဂျစ်၊ အာရှမိုင်းနားစသည့် နိုင်ငံများကိုလည်း သိမ်းပိုက်နိုင်ခဲ့လေသည်။ များစွာသော နဆွဲရာနီ ဘုန်းကြီးများကိုလည်း သတ်ပစ်ခဲ့လေသည်။ ယေရုရှလင်မြို့ရှိ နဆွဲရာနီတို့ အမြတ်တနိုးထားသော လက်ဝါးကပ်တိုင်ကိုလည်း ပါရှားစစ်သည်များသည် သိမ်းယူသွားခဲ့ကြလေသည်။ ရောမဘုရင် ဟီရတ်က်လတ်စ် (Heraclius)သည်ပင် ကွတ်စ်တွန်တူနီယာသို့ တိမ်းရှောင်နေခဲ့ရလေသည်။ ရောမနိုင်ငံမြို့တော်သည်ပင် စိုးရိမ်နေခဲ့ရလေသည်။ ရောမဘုရင်၏ တန်ခိုးအာဏာသည် လုံးဝမှေးမှိန်ပျောက်ကွယ်သွားခဲ့လေသည်။ အမြင်အားဖြင့် ရောမနိုင်ငံရပ်တည်၍ ပါရှားနိုင်ငံ၏ ကြီးစိုးမှုအောက်မှ လွတ်မြောက်နိုင်ရန် အကြောင်းပင် အလျှင်းမရှိတော့ပေ။

ဤသည့်အချင်းအရာများကို တွေ့မြင်ရသောအခါ မက္ကာမြို့သား ကာဖိရ်များသည် ဝမ်းသာမဆုံးဖြစ်ခဲ့ကြလေသည်။ အားတက်လာခဲ့ကြပေသည်။ မုစ်လင်မ်တို့အား အမျိုးမျိုး ရန်စလာခဲ့ကြပေသည်။ အမျိုးမျိုးစကားနာ ထိုးလာခဲ့ကြပေသည်။ အချို့ကာဖိရ်များက အတင့်ရဲကာ သာ၀ကကြီး အဗူဗတ်က်ရ် (ရဿေ့ယလ္လာဟို တအာလာအန်ဟု)အား "ယနေ့ ငါတို့၏နောင်တော်များဖြစ်သော ပါရှားနိုင်ငံသားများသည် အသင်တို့၏နောင်တော်များဖြစ်သော ရောမနိုင်ငံသားများကို ချေမှုန်းလိုက်ကြပြီ။ ထို့အတူ နက်ဖြန် ငါတို့လည်း အသင်တို့အားချေမှုန်းပစ်ကြမည်" ဟူ၍ပင် ပြောဆိုလာခဲ့ကြပေသည်။ ထိုအချိန်မျိုးတွင်ပင် ကုရ်အာန်ကျမ်းမြတ်က မျက်မှောက်ဖြစ်ပေါ်နေသော အကြောင်းတရားများနှင့် အခြေအနေများကို လုံးဝဆန့်ကျင်ကာ "ယခုမူ ရောမနိုင်ငံသားများ စစ်ရေးရှုံးနိမ့်ကြရပြီ၊ သို့ရာတွင် (၉)နှစ်အတွင်းမှာပင် ရောမနိုင်ငံသားများသည် ပြန်လည်အောင်နိုင်ကြရမည်။ တချိန်တည်းမှာပင် မုစ်လင်မ်တို့သည်လည်း စစ်ရေးသာ၍ ဝမ်းသာကြရမည် ဖြစ်သည်"ဟု အတည့်အလင်း ကြေညာလိုက်လေသည်။

ထိုအခါ သာ၀ကကြီး အဗူဗက္ကရ်ရှိဒ္ဒီက် (ရဿေ့ယလ္လာဟု တအာလာအန်ဟု)သည် ကုရ်အာန်ကျမ်းမြတ်၏ အဆိုပါ ကြိုတင်ဟောကြားချက်ကို အကြောင်းပြု၍ မက္ကာမြို့သားအချို့ ကာဖိရ်အကြီးအကဲများနှင့် စာချုပ်ချုပ်ဆိုခဲ့သည်မှာ "အကယ်၍ (၉) နှစ်အတွင်း ရောမနိုင်ငံက ပြန်လည်မအောင်နိုင်ကြလျှင် ကျွန်ုပ်သည် အသင်တို့အား ကုလားအုတ် (၁၀၀)ပေးမည်။ ရောမနိုင်ငံသားများက ပြန်လည်အောင်နိုင်ကြလျှင် အသင်တို့သည် ကျွန်ုပ်အား ကုလားအုတ် (၁၀၀) ပေးကြရမည်" ဟူ၍ဖြစ်သည်။ (ထိုအချိန်တွင် ယင်းသို့) စာချုပ်ချုပ်ဆိုခြင်းကို ပိတ်ပင်တားမြစ်ခြင်း မရှိခဲ့သေးပေ။

ယင်းသို့ ဖြစ်ပျက်ပြီးနောက် မကြာမီအတွင်းမှာပင် စစ်ရေးရှုံးနိမ့်သွားခဲ့သော ရောမဘုရင် ဟီရတ်က်လတ်စ်သည် မိမိဆုံးရှုံးခဲ့ရသော အာဏာကို ပြန်လည်ရယူရန် သန္နိဋ္ဌာန်ချပြီး "အကယ်၍ အလ္လာဟ်အရှင်မြတ်သည် ကျွန်တော်မျိုးအား ပါရှားနိုင်ငံအပေါ်၌ အောင်နိုင်မှုပေးတော်မူပါက ကျွန်တော်မျိုးသည် 'ဟိမ်ဆွ' မှ လေိယာ (ဗိုင်တုလ်မုကဒ္ဒါစ်)သို့ ခြေကျင်လမ်းလျှောက်သွားပါမည်ဟု (မန္နတ်)ကိုးလိုက်လေသည်။

အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်ဖြင့် ကုရ်အာန်ကျမ်းမြတ်၏ ကြိုတင်ဟောကြားချက်အတိုင်း (၉)နှစ်အတွင်း |တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိ ဝစ္စလမ်) ဟိဂျီရတ်ပြုလုပ်ပြီး တစ်နှစ် ကျော်သောအခါ| ဗဒ်ရ်စစ်ပွဲ ဖြစ်ပွားသည့်နေ့မှာပင် မုစ်လင်မ်တို့သည် ဗဒ်ရ်စစ်ပွဲတွင် စစ်ရေးသာ၍ အောင်လံလွှင့်ထူနေကြစဉ်၊ ရောမနိုင်ငံသား အဟ်လိကိတာဗ်များသည် ပါရှားနိုင်ငံသား မဂျူစီများအား ပြန်လည်အောင်နိုင် လိုက်ကြပြီဖြစ်ကြောင်း သတင်းကောင်းကို ကြားလိုက်ကြရပြန်ရာ အပျော်ပေါ် အပျော်ထပ်ကာ ဝမ်းသာမဆုံး ဖြစ်သွားခဲ့ကြပေသည်။ မက္ကာမြို့သား ကာဖိရ်များမှာမူကား ၎င်းတို့ကိုယ်တိုင် စစ်ရေးရှုံးနိမ့်ကြရသည်သာမက ၎င်းတို့၏ ➤➤

فِي بِضْعِ سِنِينَ ۗ لِلَّهِ الْأَمْرُ مِن قَبْلُ وَمِن بَعْدُ ۚ وَيَوْمَئِذٍ يَفْرَحُ الْمُؤْمِنُونَ ﴿٤﴾ بِنَصْرِ اللَّهِ ۚ يَنصُرُ مَن يَشَاءُ ۖ وَهُوَ الْعَزِيزُ الرَّحِيمُ ﴿٥﴾

၄။ နှစ်ကာလအနည်းငယ်တွင် အမိန့်အာဏာဟူသည် ယခင်ကလည်း အလ္လာဟ်အရှင်မြတ်၌သာ ရှိခဲ့ပေသည်။ [၁] နောင်တွင်လည်း (ထိုအရှင်မြတ်၌သာ ရှိနေပေမည်။) ထိုနေ့တွင် “မုအ်မင်န်” သက်ဝင်ယုံကြည်သောသူတို့သည် ဝမ်းမြောက်ကြပေမည်။

၅။ အလ္လာဟ်အရှင်မြတ်၏ ကူညီမှုကြောင့် ထိုအရှင်မြတ်သည် မိမိ အလိုရှိတော်မူသော သူအား အောင်နိုင်စေတော်မူ၏။ စင်စစ်မှာမူကား ထိုအရှင်မြတ်သည် အလွန်တရာ လွှမ်းမိုးတော်မူသော၊ အလွန်တရာ သနားကြင်နာတော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူ၏။

---

➤➤မိတ်ဆွေများဖြစ်သော ပါရှားနိုင်ငံသားများလည်း စစ်ရေးရှုံးနိမ့်ကြရသည်ဖြစ်ရာ အပူပေါ်အပူထပ်ကာ ကြေကွဲခြင်းကြီးမက ကြေကွဲခဲ့ကြရလေသည်။ ဤကား ကုရ်အာန်ကျမ်းမြတ်၏ မှန်ကန်တိကျပြတ်သားလှသည့် အံ့မဆုံးသော ကြိုတင်ဟောကြားချက်တစ်ရပ်ပင်။

ဤသည့် ကြိုတင်ဟောကြားချက်၏ မှန်ကန်မှုကို အထင်အရှား တွေ့မြင်ကြရသောအခါ များစွာသော ပုဂ္ဂိုလ်များသည် အစ္စလာမ်ကို လက်ခံလာခဲ့ကြပေသည်။ သာဝကကြီး အဗူဗတ်က်ရ် (ရဒွေ့ယလ္လာ ဟိုတအာလာ အန်ဟု)သည်လည်း မက္ကာမြို့သား အချို့ကာဖိရ်များထံမှ ချုပ်ဆိုထားခဲ့သောစာချုပ်အရ၊ ကုလားအုတ် (၁၀၀)ကို ရယူခဲ့လေသည်။ ထို့နောက် တမန်တော်မြတ်(ဆွာလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)၏ ညွှန်ကြားချက်အရ အဆိုပါ ကုလားအုတ်များကို လှူဒါန်းလိုက်လေသည်။

(၁) အလ္လာဟ်အရှင်မြတ်သည် ဉာဏ်တော်အနန္တ၊ တန်ခိုးတော်အနန္တနှင့် ပြည့်စုံတော်မူသည်။ ထိုအရှင်မြတ်သည် တဆူတည်းဖြစ်တော်မူသည်။ ထိုအရှင်မြတ်၌ ဂုဏ်ရည်တူဟူ၍ အလျှင်းမရှိ။ ထိုအရှင်မြတ်သည် တောင့်တမှု၊ ကြောင့်ကြမှု၊ ချုပ်ချယ်မှုတို့နှင့် လုံးဝကင်းစင်တော်မူသည်။ စကြာဝဠာအဝန်းကို မိမိအလိုတော်အတိုင်း စီမံခန့်ခွဲတော်မူသည်။ ခြယ်လှယ်တော်မူသည်။ စကြာဝဠာခပ်သိမ်း၌ ဖြစ်ပျက်ပြောင်းလဲမှုအားလုံးသည် ထိုအရှင်မြတ်၏ အလိုတော်အတိုင်းသာလျှင် ဖြစ်နေပေသည်။

အောင်နိုင်မှု ရှုံးနိမ့်မှုတို့၏ မူရင်းအကြောင်းတရား များသည်လည်း ထိုအရှင်မြတ်၏ လက်တော်တွင်း၌သာလျှင် ရှိပေသည်။ ထိုအရှင်မြတ်သည် မိမိအလိုတော်အတိုင်း အနိုင်ပေးလိုသူအား အနိုင်ပေးတော်မူသည်။ အရှုံးပေးလိုသူအား၊ အရှုံးပေးတော်မူသည်။ ပထမ ပါရှားနိုင်ငံ၏ စစ်ရေးသာမှု၊ ထို့နောက် ရောမနိုင်ငံ၏ ပြန်လည်စစ်ရေးသာမှုတို့သည်လည်း ထိုအရှင်မြတ်၏ အလိုတော်အတိုင်းသာလျှင် ဖြစ်ချေသည်။ သို့ပါသော်လည်း များစွာသော လူသားတို့သည် ဤသည့်သဘောတရားကို မသိနားမလည်ကြပေ။ ကြည့်-ကုရ်အာန် (၃း၁၃၉)။

၆။ (ဤသည်) အလ္လာဟ်အရှင်မြတ်၏ ကတိပင်၊ အလ္လာဟ်အရှင်မြတ်သည် မိမိထားရှိတော်မူသော ကတိကို ဖောက်ဖျက်တော်မူသည် မဟုတ်ပေ၊ သို့ရာတွင် အများဆုံးသော သူတို့မှာမူကား မသိကြပေ။

وَعْدَ اللّٰهِ ۚ لَا يُخْلِفُ اللّٰهُ وَعْدَهٗ وَلٰكِنَّ اَكْثَرَ النَّاسِ لَا يَعْلَمُوْنَ ﴿٦﴾

၇။ ၎င်းတို့သည် လောကီဘဝ၏ အပေါ်ယံပုံပန်းကိုသာ သိရှိကြကုန်၏။ သို့ရာတွင် နောင်တမလွန်ဘဝကိုမူကား ၎င်းတို့သည် (လုံးဝ) မသိကြသူများသာလျှင် ဖြစ်ကြကုန်သတည်း။

يَعْلَمُوْنَ ظَاهِرًا مِّنَ الْحَيٰوةِ الدُّنْيَا ۖ وَهُمْ عَنِ الْاٰخِرَةِ هُمْ غٰفِلُوْنَ ﴿٧﴾

၈။ ၎င်းတို့သည် မိမိတို့၏ စိတ်နှလုံးများတွင် မစဉ်းစားခဲ့ကြလေသလော။ အလ္လာဟ်အရှင်မြတ်သည် မိုးကောင်းကင်များကိုလည်းကောင်း၊ ပထဝီမြေကိုလည်းကောင်း၊ ထို(မိုးကောင်းကင်များနှင့်ပထဝီမြေ) နှစ်ခုအကြား၌ ရှိသမျှတို့ကိုလည်းကောင်း၊ တိကျမှန်ကန်သောကျိုးကြောင်းနှင့်သာဖန်ဆင်းတော်မူခဲ့၏။ သို့တစေလည်း များစွာသောသူတို့မှာမူကား မိမိတို့အားဖန်ဆင်းတော်မူသောအရှင်မြတ်နှင့် တွေ့ဆုံကြရမည်ကို *အမှန်ပင် ငြင်းပယ်သူများသာဖြစ်ကြကုန်၏။* [၁]

اَوَلَمْ يَتَفَكَّرُوْا فِيْٓ اَنْفُسِهِمْ ۗ مَا خَلَقَ اللّٰهُ السَّمٰوٰتِ وَالْاَرْضَ وَمَا بَيْنَهُمَآ اِلَّا بِالْحَقِّ وَاَجَلٍ مُّسَمًّى ۗ وَاِنَّ كَثِيْرًا مِّنَ النَّاسِ بِلِقَآئِ رَبِّهِمْ لَكٰفِرُوْنَ ﴿٨﴾

---

(၁) ဤစကြာဝဠာကြီးသည်လည်း တနေ့ဆိတ်သုဉ်းသွားမည်သာ။

အလ္လာဟ်အရှင်မြတ်သည် ဤစကြာဝဠာကြီးကို ရည်ရွယ်ချက်မရှိ၊ အချိန်အကန့်အသတ်မရှိ၊ အကျိုးမဲ့ အကြောင်းမဲ့၊ အချည်းနှီး ဖန်ဆင်းထားတော် မူသည်မဟုတ်။ ဤစကြာဝဠာကြီးကို ဖန်ဆင်းတော်မူရာ၌လည်း ရည်ရွယ်ချက်ရှိသည်။ အချိန်အကန့်အသတ်လည်း ရှိသည်။ အကြောင်းနှင့် အကျိုးလည်းရှိသည်။ ထိုအရှင်မြတ် ဖန်ဆင်းထားတော်မူသော အရာများတွင် အကျိုးမဲ့၊ အကြောင်းမဲ့၊ အချည်းနှီးဟူ၍ တစ်စုံတစ်ရာမျှမရှိပေ။

စဉ်းစားဆင်ခြင်အပ်သည်မှာ ဤစကြာဝဠာကြီးသည် တစ်စုံတစ်ရာ ပြောင်းလဲမှုမရှိပဲ အမြဲထာဝရ ရပ်တည်နေသည်မဟုတ်၊ အခြားအရာများနည်းတူ ပြောင်းလဲလျက်ရှိပေသည်။ ဤသည့် ပြောင်းလဲမှုများကို စဉ်းစားဆင်ခြင်ပါက ပြောင်းလဲလျက်ရှိသော အရာအသီးသီးတို့သည် ၎င်းတို့၏သက်တမ်း ကုန်ဆုံးသည့်အခါ ဆိတ်သုဉ်းသွားသကဲ့သို့ ဤစကြာဝဠာကြီးသည်လည်း ၎င်းအဖို့ သတ်မှတ်ထားတော်မူသည့် သက်တမ်း ကုန်ဆုံးသွားသည့်အခါ ဆိတ်သုဉ်းသွားမည် ဖြစ်သည်ကို နားလည်သဘောပေါက်နိုင်ပေသည်။ (လူသားများသည် မိမိတို့၏ဘဝ၊ ဖြစ်စဉ်ကိုပင် စဉ်းစားဆင်ခြင်ပါက ဤသည့်သဘောကို ကောင်းစွာနားလည်နိုင် ကြပေသည်၊) သို့ ဆိတ်သုဉ်းသွားသည့်အခါ ဤစကြာဝဠာကြီး၏ အကျိုးဆက်ဖြစ်သော ဒုတိယကမ္ဘာ (ဝါ) နောင်တမလွန် ➤➤

اَوَلَمْ يَسِيْرُوْا فِى الْاَرْضِ فَيَنْظُرُوْا كَيْفَ كَانَ عَاقِبَةُ الَّذِيْنَ مِنْ قَبْلِهِمْ ؕ كَانُوْٓا اَشَدَّ مِنْهُمْ قُوَّةً وَّاَثَارُوا الْاَرْضَ وَعَمَرُوْهَآ اَكْثَرَ مِمَّا عَمَرُوْهَا وَجَآءَتْهُمْ رُسُلُهُمْ بِالْبَيِّنٰتِ ؕ فَمَا كَانَ اللّٰهُ لِيَظْلِمَهُمْ وَلٰكِنْ كَانُوْٓا اَنْفُسَهُمْ يَظْلِمُوْنَ ؕ ﴿٩﴾

၉။ ၎င်းတို့သည် ကမ္ဘာမြေဝယ် လှည့်လည် သွားလာခြင်း မပြုခဲ့ကြလေသလော၊ သို့လှည့်လည် သွားလာကြလျှင်၊ ၎င်းတို့သည် မိမိတို့အလျင်ရှိခဲ့ကြသော ရှေးလူဟောင်းတို့၏ နောက်ဆုံးအကျိုးသည် မည်သို့မည်ပုံ ဖြစ်ခဲ့သည်ကို တွေ့မြင်ကြပေမည်။

ထိုရှေးလူဟောင်းတို့သည် ၎င်းတို့ထက် ခွန်အားဗလ ကြီးမားတောင့်တင်းသူများဖြစ်ခဲ့ကြသည့်ပြင် ၎င်းတို့သည် မြေကို ဤသူများ စည်ပင်သာယာအောင် ပြုလုပ်ကြသည်ထက် အလွန်များပြားစွာ ပိုမိုထွန်ယက်စိုက်ပျိုး၍ စည်ပင်သာယာအောင် ပြုလုပ်ခဲ့ကြကုန်၏။ ထိုမှတပါး ၎င်းတို့ထံသို့(လည်း) ၎င်းတို့၏ ရစူလ်တမန်တော်များသည် ထင်ရှားလှစွာသော သက်သေလက္ခဏာ တန်ခိုးပြာဋိဟာများနှင့်တကွ ရောက်ရှိလာခဲ့ကြကုန်၏။ စင်စစ်သော်ကား အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့အား မတရား နှိပ်စက်ညှဉ်းဆဲတော်မူခဲ့သည် မဟုတ်ပေ။ သို့ရာတွင် ၎င်းတို့ကိုယ်တိုင် မိမိတို့ကိုယ်ကို မတရား နှိပ်စက်ညှဉ်းပမ်းခဲ့ကြပေသည်။

ثُمَّ كَانَ عَاقِبَةَ الَّذِيْنَ اَسَآءُوا السُّوْٓاٰى اَنْ كَذَّبُوْا بِاٰيٰتِ اللّٰهِ وَكَانُوْا بِهَا يَسْتَهْزِءُوْنَ ﴿١٠﴾ ع

၁၀။ ထို့နောက် ဆိုးယုတ်သောအမှုကိစ္စကို ပြုမူပွားများခဲ့ကြကုန်သောသူတို့၏ နောက်ဆုံးအကျိုးမှာ အဆိုးဆုံးပင် ဖြစ်ခဲ့လေ၏။ အကြောင်းသော်ကား ၎င်းတို့သည် အလ္လာဟ်အရှင်မြတ်၏ သက်သေလက္ခဏာများကို မဟုတ်မမှန်ဟု စွပ်စွဲငြင်းပယ်ခဲ့ကြသည်သာမက ယင်းသက်သေ လက္ခဏာများကိုပင် ပြက်ချော် ပြောင်လှောင်သမှု ပြုခဲ့ကြပေသေးသည်။

---

➤➤ ဘဝသည် ဖြစ်ပေါ်လာပေမည်။ ထိုအခါ စကြာဝဠာကြီးကို ဖန်ဆင်းတော်မူသည့် ရည်ရွယ်ချက်ကို မျက်ဝါးထင်ထင် တွေ့မြင်ကြရပေမည်။ ဤပစ္စက္ခဘဝတွင် ရှိခဲ့ကြစဉ် ပြုမူဆည်းပူးခဲ့ကြသောကောင်းမှု၊ မကောင်းမှု အကြောင်းနှစ်ခု၏ ကျိုးပြစ်များကိုလည်း ခံ,စံကြရပေမည်။

၁၁။ အလ္လာဟ်အရှင်မြတ်သည်ပင် အဖန်ဆင်းခံတို့ကိုစတင်ဖန်ဆင်းတော်မူ၏။ ထို့နောက် ထိုအရှင်မြတ်သည်ပင် ယင်းအဖန်ဆင်းခံတို့ကို တဖန် ထပ်မံ၍ ဖန်ဆင်းတော်မူမည်။ ထို့နောက် အသင်တို့ (အားလုံး) သည် ထိုအရှင်မြတ်ထံတော်သို့ပင် ပြန်လည်ရောက်ရှိကြရပေမည်။

اَللّٰهُ يَبْدَؤُا الْخَلْقَ ثُمَّ يُعِيْدُهٗ ثُمَّ اِلَيْهِ تُرْجَعُوْنَ ﴿١١﴾

၁၂။ စင်စစ် "ကိယာမတ်" ရှင်ပြန်ထရမည့် အချိန်ကာလ ဆိုက်ရောက်လာသောနေ့တွင် အပြစ်ရှိသူတို့မှာ မျှော်လင့်ချက်ကင်းမဲ့ကာ စိတ်ပျက်၍သွားကြပေမည်။

وَيَوْمَ تَقُوْمُ السَّاعَةُ يُبْلِسُ الْمُجْرِمُوْنَ ﴿١٢﴾

၁၃။ ၎င်းပြင် (ထိုနေ့တွင်) ၎င်းတို့၏ တွဲဖက်နှိုင်းယှဉ်ဘက်တို့အနက် ၎င်းတို့အား ကြားဝင်အသနားခံ၍ ပေးမည့်သူများဟူ၍ ရှိလိမ့်မည် မဟုတ်ပေ။ ထို့ပြင် ၎င်းတို့ကိုယ်တိုင်ပင် မိမိတို့၏ တွဲဖက်နှိုင်းယှဉ်ဘက်များအား ငြင်းပယ်ကြပေမည်။

وَلَمْ يَكُنْ لَّهُمْ مِّنْ شُرَكَآئِهِمْ شُفَعٰٓؤُا وَكَانُوْا بِشُرَكَآئِهِمْ كٰفِرِيْنَ ﴿١٣﴾

၁၄။ ထိုမှတပါး "ကိယာမတ်" ရှင်ပြန်ထရမည့် ကာလ ဆိုက်ရောက်လာသောနေ့တွင် (ခပ်သိမ်းကုန်သောလူတို့သည်) သီးခြားဖြစ်သွားကြပေမည်။ အစားစား ဖြစ်သွားကြပေမည်။ ကွဲပြားသွားကြပေမည်။

وَيَوْمَ تَقُوْمُ السَّاعَةُ يَوْمَئِذٍ يَّتَفَرَّقُوْنَ ﴿١٤﴾

၁၅။ သို့ဖြစ်ပေရာ အီမာန် သက်ဝင်ယုံကြည်၍ ကောင်းမြတ်သော အကျင့်သီလများကို ကျင့်မူ ဆောက်တည်ခဲ့ကြကုန်သောသူတို့သည် ဥယျာဉ်တော်၌ ဂုဏ်ပြုဧည့်ခံခြင်းကို ခံကြရပေမည်။ ဝမ်းသာကြရပေမည်။

فَاَمَّا الَّذِيْنَ اٰمَنُوْا وَعَمِلُوا الصّٰلِحٰتِ فَهُمْ فِيْ رَوْضَةٍ يُّحْبَرُوْنَ ﴿١٥﴾

၁၆။ သို့ရာတွင် သွေဖည်ငြင်းပယ်၍ ငါအရှင်မြတ်၏ သက်သေလက္ခဏာတော်များကို မဟုတ်မမှန် စွပ်စွဲခဲ့ကြကုန်သော သူတို့မှာမူကား၊ ပြစ်ဒဏ်၌ အဆင်သင့် ရောက်ရှိစေခြင်းကို ခံကြရပေအံ့သတည်း။

وَاَمَّا الَّذِيْنَ كَفَرُوْا وَكَذَّبُوْا بِاٰيٰتِنَا وَلِقَآئِ الْاٰخِرَةِ فَاُولٰٓئِكَ فِي الْعَذَابِ مُحْضَرُوْنَ ﴿١٦﴾

فَسُبْحٰنَ اللّٰهِ حِيْنَ تُمْسُوْنَ وَحِيْنَ تُصْبِحُوْنَ ﴿١٧﴾

၁၇။ သို့ဖြစ်ပေရာ အသင်တို့သည် ညနေအချိန်သို့ ဝင်ရောက်ကြသောအခါ၌လည်းကောင်း၊ နံနက်အချိန်သို့ ဝင်ရောက်ကြသောအခါ၌လည်းကောင်း၊ အလ္လာဟ် အရှင်မြတ် စင်ကြယ်သန့်ရှင်းတော်မူကြောင်း မြွက်ဆိုကြလေကုန်။

وَلَهُ الْحَمْدُ فِي السَّمٰوٰتِ وَالْاَرْضِ وَعَشِيًّا وَّحِيْنَ تُظْهِرُوْنَ ﴿١٨﴾

၁၈။ စင်စစ်သော်ကား မိုးကောင်းကင်များ၌လည်းကောင်း၊ ပထဝီမြေ၌လည်းကောင်း၊ မွန်းတိမ်းပြီးနောက်တွင်လည်းကောင်း၊ အသင်တို့သည် နေ့လယ်အချိန်သို့ ဝင်ရောက်ကြသောအခါ၌လည်းကောင်း၊ ထိုအရှင်မြတ်သာလျှင် (အခါခပ်သိမ်း) ချီးမွမ်းထောပနာမှုကို ခံယူလျက် ရှိတော်မူ၏။

يُخْرِجُ الْحَيَّ مِنَ الْمَيِّتِ وَيُخْرِجُ الْمَيِّتَ مِنَ الْحَيِّ وَيُحْيِ الْاَرْضَ بَعْدَ مَوْتِهَا ۗ وَكَذٰلِكَ تُخْرَجُوْنَ ﴿١٩﴾

၁၉။ ထိုအရှင်မြတ်သည် သက်ရှိကို သက်မဲ့မှ ထုတ်တော်မူ၏။ ထိုနည်းတူစွာ သက်မဲ့ကိုသက်ရှိမှ ထုတ်တော်မူ၏။ ထို့မှတပါး ထိုအရှင်မြတ်သည် ပထဝီမြေကို ယင်းပထဝီမြေ သေ(သွေ့ခြောက်)ပြီးနောက် ပြန်ရှင်(စိုပြည်စိမ်းလန်း)စေတော်မူ၏။ စင်စစ်သော်ကား အသင်တို့သည်လည်း ဤနည်းနှင်နှင် ထွက်စေခြင်းကို ခံကြရကုန်အံ့သတည်း။ [၁]

---

(၁) အလ္လာဟ်အရှင်မြတ်သည် သက်မဲ့မှသက်ရှိကိုလည်းကောင်း၊ သက်ရှိမှ သက်မဲ့ကိုလည်းကောင်း၊ သုတ်ရည်မှ လူသားကိုလည်းကောင်း၊ လူသားမှ သုတ်ရည်ကိုလည်းကောင်း၊ ကာဖိရ်မှ မုအ်မင်န်ကိုလည်းကောင်း၊ မုအ်မင်န်မှ ကာဖိရ်ကိုလည်းကောင်း ဖန်ဆင်းတော်မူသည်။ ထိုအရှင်မြတ်သည်ပင် မြေသေကို မြေရှင်ဖြစ်စေတော်မူသည်။ ခြောက်သွေ့နေသော မြေသေကို မိုးရေဖြင့် စိုပြေစိမ်းလန်းစေတော်မူသည်။ အချုပ်အားဖြင့် သေခြင်း၊ရှင်ခြင်း တရားများသည် ထိုအရှင်မြတ်၏ လက်တော်တွင်း၌သာ ရှိပေသည်။ သို့ဖြစ်ပေရာ သေနေသော လူသားတို့အား သင်္ချိုင်းများမှ ရှင်ပြန်ထစေရန်ကိစ္စမှာ ထိုအရှင်မြတ်အဖို့ အသို့လျှင် အခက်အခဲရှိနိုင်အံ့နည်း။

ဤအာယတ်တော်နှင့်ဆက်စပ်၍ ကုရ်အာန် (၃:၂၆။ ၆:၉၆။ ၁၀:၃၁) တို့ကို ဆင်ခြင်ပါကုန်။

وَمِنْ اٰيٰتِهٖٓ اَنْ خَلَقَكُمْ مِّنْ تُرَابٍ ثُمَّ اِذَآ اَنْتُمْ بَشَرٌ تَنْتَشِرُوْنَ ﴿٢٠﴾

၂၀။ စင်စစ် (ဤသည်) ထိုအရှင်မြတ်၏ သက်သေလက္ခဏာတော်များတွင် အပါအဝင် ဖြစ်သည်။ ထိုအရှင်မြတ်သည် အသင်တို့အား မြေကြီးဖြင့် ဖန်ဆင်းတော်မူခဲ့၏။ ထို့နောက် အသင်တို့သည် ရုတ်တရက် လူသားများဖြစ်လာပြီး (ကမ္ဘာမြေဝယ်) ပျံ့နှံ့လျက် ရှိကြကုန်၏။ ၁

وَمِنْ اٰيٰتِهٖٓ اَنْ خَلَقَ لَكُمْ مِّنْ اَنْفُسِكُمْ اَزْوَاجًا لِّتَسْكُنُوْٓا اِلَيْهَا وَجَعَلَ بَيْنَكُمْ مَّوَدَّةً وَّرَحْمَةً ۗ اِنَّ فِيْ ذٰلِكَ لَاٰيٰتٍ لِّقَوْمٍ يَّتَفَكَّرُوْنَ ﴿٢١﴾

၂၁။ ထိုနည်းတူစွာ (ဤသည်လည်း) ထိုအရှင်မြတ်၏ သက်သေလက္ခဏာတော်များတွင် အပါအဝင် ဖြစ်ပေသည်။ ထိုအရှင်မြတ်သည် အသင်တို့အဖို့ အသင်တို့၏အမျိုးအစားအနက်မှပင် ကြင်ရာကြင်ဖက်များကို ၎င်းတို့ထံတွင် အသင်တို့ အနားယူ စိတ်ချမ်းသာမှု ရရှိကြအံ့သောငှာ ဖန်ဆင်းတော်မူခဲ့၏။ ထို့မှတပါး ထိုအရှင်မြတ်သည် အသင်တို့စပ်ကြား၌ ချစ်ခြင်းမေတ္တာကိုလည်းကောင်း၊ အကြင်နာတရားကိုလည်းကောင်း၊ စီမံပြုလုပ်၍ ပေးသနားတော်မူခဲ့၏။ ဧကန်မလွဲ ဤသည်၌ ဆင်ခြင်သုံးသပ် စဉ်းစားကြကုန်သော သူတို့အဖို့ အမှန်ပင် သက်သေလက္ခဏာများသည် ရှိပေသတည်း။ ၂

---

① **သက်သေလက္ခဏာတော် (က)၊**

အလ္လာဟ်အရှင်မြတ်သည် အာဒမ်ကို မြေဖြင့် ဖန်ဆင်းတော်မူခဲ့၏။ ထို့နောက် ၎င်းမှပင် ၎င်း၏ ကြင်ရာတော်ကို ဖန်ဆင်းတော်မူခဲ့၏။ ထို့နောက် ထိုအာဒမ်၏ သားသမီးများဖြစ်သော လူသားတို့အား ပွားများစေတော်မူခဲ့၏။ မြေမှ စတင်ဖြစ်ပေါ်လာခဲ့သော အာဒမ်၏ သားသမီးများသည် ကမ္ဘာအရပ်ရပ်သို့ ပျံ့နှံ့ကာ ကမ္ဘာဓာတ်ခံပေါ်တွင် အမျိုးမျိုး ဓာတ်ခင်းလျက်ရှိကြပေသည်။ ကြည့်-ကုရ်အာန် (၄း၁)။ ဤသည်လည်း အလ္လာဟ်အရှင်မြတ်၏ တန်ခိုးတော်၏ သက်သေလက္ခဏာတော် တစ်ပါးပင်။

② **သက်သေလက္ခဏာတော် (ခ)၊**

အလ္လာဟ်အရှင်မြတ်သည် လူသားတို့၏ဘဝသက်တမ်းကို သာယာစေရန်အလို့ငှာ အမျိုးသားတို့အဖို့ ၎င်းတို့နှင့်မျိုးတူဘဝတူ ကြင်ဘက်များကို ဖန်ဆင်းပေးထားတော်မူ၍ ဇနီးမောင်နှံတို့စပ်ကြားတွင် ချစ်ခြင်းမေတ္တာနှင့် သနားကြင်နာ ထောက်ထားစာနာ လေးစားခင်မင်ရင်းနှီးမှုများကို ထည့်သွင်းပေးထားတော်မူသည်။ ➢➢

وَمِنْ اٰيٰتِهٖ خَلْقُ السَّمٰوٰتِ وَالْاَرْضِ وَاخْتِلَافُ اَلْسِنَتِكُمْ وَاَلْوَانِكُمْ ۭ اِنَّ فِيْ ذٰلِكَ لَاٰيٰتٍ لِّلْعٰلِمِيْنَ ۝۲۲

၂၂။ ထိုမှတပါး ထိုအရှင်မြတ်၏ သက်သေလက္ခဏာတော်များအနက်မှပင် *မိုးကောင်းကင်များနှင့် ပထဝီမြေကို ဖန်ဆင်းတော်မူခြင်းသည်လည်းကောင်း၊* [၁] အသင်တို့၏ ဘာသာစကားနှင့် အသွေးအရောင်တို့ ကွဲပြားခြားနားခြင်းသည်လည်းကောင်း၊ [၂] စင်စစ် ဤသည် ပညာရှိ သုခမိန်တို့အဖို့ အမှန်ပင် သက်သေလက္ခဏာများသည် ရှိချေသည်။

---

➤➤ ဤအာယတ်တော်ကို ထောက်ရှုခြင်းအားဖြင့် (၁) အမျိုးသမီးများသည် အမျိုးသားတို့နှင့် မျိုးတူဘဝတူ ဖြစ်ကြောင်း၊ (၂) အမျိုးသမီးများသည် အမျိုးသားတို့အား ကိုယ်စိတ်နှစ်ဖြာ ကျန်းမာချမ်းသာစေကြောင်း၊ (၃) အမျိုးသမီးများနှင့် အမျိုးသားတို့၏ ဆက်ဆံရေးများသည် ချစ်ခြင်းမေတ္တာနှင့် သနားကြင်နာ ထောက်ထားစာနာ လေးစားခင်မင်ရင်းနှီးမှုများ :အပေါ်၌တည်ရှိနေကြောင်း ကောင်းစွာ သိရှိနိုင်ပေသည်။ အမျိုးသမီးများသည် အချို့သူများထင်မှတ်နေကြသကဲ့သို့ အမျိုးသားတို့၏ အစေခံခိုင်းဖတ် မဟုတ်ကြပေ။ အမှန်မှာ အမျိုးသမီးများသည် အမျိုးသားတို့အဖို့ ခင်မင်ရင်းနှီးစွာ ဆက်ဆံပေါင်းသင်းရမည့် မျိုးတူဘဝတူ ကြင်ဖက်များဖြစ်ကြပေသည်။ ဤသည်လည်း အလ္လာဟ်အရှင်မြတ်၏ တန်ခိုးတော် သက်သေလက္ခဏာတပါးပင်။

**① သက်သေလက္ခဏာတော် (ဂ)၊**

ကမ္ဘာ့တန်ဆာပလာများအနက် မိုးနှင့်မြေမှာ လူသားတိုင်းအဖို့ အမြဲတစေတွေ့မြင်နေရသော အရာများပင်ဖြစ်သည်။ မိုးနှင့်မြေ၏အကျိုးကား များပြားလှ၏။ သူငါအသိပင်။ ဤမျှမြင့်စွင့်သောမိုးနှင့် ဤမျှထုထည်ကြီးမားသော ပထဝီမြေကိုလည်း အလ္လာဟ်အရှင်မြတ်ပင် ဖန်ဆင်းထားတော်မူခြင်း ဖြစ်သည်။ ဤသည်လည်း အလ္လာဟ်အရှင်မြတ်၏ တန်ခိုးတော်၏ သက်သေလက္ခဏာတော် တစ်ပါးပင်။

**② သက်သေလက္ခဏာတော် (ဃ)၊**

လူသားအားလုံးတို့သည် တစ်ဖတစ်မိတည်းမှပင် ဆင်းသက်ပေါက်ပွားလာခဲ့ကြ၏။ အစပထမတွင် အတူနေထိုင်ခဲ့ကြ၏။ လူဦးရေ များပြားလာသောအခါ ရေကြည်ရာ-မြက်နုရာသို့ ရွှေ့ပြောင်းကာ ကမ္ဘာ့အရပ်ရပ်သို့ ပျံ့နှံ့ကာလာခဲ့ကြ၏။ ပြောဆိုသုံးနှုန်းသော ဘာသာစကားများသည်လည်း ကွဲပြားလာခဲ့ကြ၏။ ကမ္ဘာ့အစမှ ယနေ့တိုင်တိုးပွားလာခဲ့သော လူဦးရေမှာ အသန်းအသန်းပင်။ ပုံသဏ္ဍာန်လည်း အမျိုးမျိုးပင်။ ဘာသာစကားလည်း အစားစားပင်၊ အသွေးအရောင် အပြားပြားပင်။

သို့တစေလည်း ဤမျှများပြားလှသော လူသားတို့တွင် ပြောပုံ၊ဆိုပုံ၊ အသံနေအသံထား၊ အသွေးအရောင်၊ ပုံပန်းသဏ္ဍာန် အမူအရာစသည်တို့တွင် လုံး၀တမျိုးတစားတည်း တထေရာတည်း တူနေသူနှစ်ဦးမျှပင် မတွေ့ရှိရပေ။ လူသားအားလုံးတို့သည် ပြောပုံဆိုပုံ၊ အသံနေအသံထား၊ အသွေးအရောင်၊ ပုံပန်းသဏ္ဍာန် အမူအရာစသည်တို့တွင် တစ်ဦးနှင့်တစ်ဦးမတူ။ တစ်နည်းတဖုံ ကွဲပြား ခြားနားကြသည်သာ ဖြစ်ပေသည်။ ဤကား မျက်မြင်ဒိဋ္ဌပင်။ ဤသည်လည်း အလ္လာဟ်အရှင်မြတ်၏ တန်ခိုးတော်၏ သက်သေလက္ခဏာတော် တစ်ပါးပင်။

၂၃။ ၎င်းပြင် ထိုအရှင်မြတ်၏ သက်သေလက္ခဏာတော်များအနက်မှပင် ညနှင့်နေ့၌ အသင်တို့ အိပ်စက်ခြင်းသည်လည်းကောင်း၊ ထိုအရှင်မြတ်၏ ကျေးဇူးတည်းဟူသော စားနပ်ရိက္ခာကို အသင်တို့ ဆည်းပူးရှာဖွေခြင်းသည်လည်းကောင်း၊ စေကန်မုချ ဤသည်၌ ကြားနာသူတို့အဖို့ အမှန်ပင် သက်သေလက္ခဏာများသည် ရှိကုန်သတည်း။ [၁]

وَمِنْ اٰيٰتِهٖ مَنَامُكُمْ بِالَّيْلِ وَالنَّهَارِ وَابْتِغَآؤُكُمْ مِّنْ فَضْلِهٖ ؕ اِنَّ فِيْ ذٰلِكَ لَاٰيٰتٍ لِّقَوْمٍ يَّسْمَعُوْنَ ﴿۲۳﴾

၂၄။ ထို့ပြင် (ဤသည်လည်း) ထိုအရှင်မြတ်၏ သက်သေလက္ခဏာတော်များအနက်မှပင်ဖြစ်၏။ ထိုအရှင်မြတ်သည် အသင်တို့အား လျှပ်စစ်ပြက်ခြင်းကို ကြောက်ရွံ့စေသောအားဖြင့်လည်းကောင်း၊ မျှော်လင့်စေသောအားဖြင့်လည်းကောင်း၊ ပြသတော်မူ၏။ ထို့မှတပါး ထိုအရှင်မြတ်သည် မိုးကောင်းကင်မှ မိုးရေကို ရွာသွန်းစေတော်မူ၏။ တဖန် ထိုအရှင်မြတ်သည် ထိုမိုးရေဖြင့် ပထဝီမြေကို ယင်းပထဝီမြေ သေပြီးနောက် (သွေ့ခြောက်စေပြီးနောက်) ရှင်ပြန်(စိမ်းလန်းစိုပြည်)စေတော်မူ၏။ စေကန်စင်စစ် ဤသည်၌ သိနားလည်ကြသောသူတို့အဖို့ အမှန်ပင် သက်သေလက္ခဏာများ ရှိပေသည်။ [၂]

وَمِنْ اٰيٰتِهٖ يُرِيْكُمُ الْبَرْقَ خَوْفًا وَّطَمَعًا وَّيُنَزِّلُ مِنَ السَّمَآءِ مَآءً فَيُحْيٖ بِهِ الْاَرْضَ بَعْدَ مَوْتِهَا ؕ اِنَّ فِيْ ذٰلِكَ لَاٰيٰتٍ لِّقَوْمٍ يَّعْقِلُوْنَ ﴿۲۴﴾

---

(၁) **သက်သေလက္ခဏာတော် (င)၊**

အလ္လာဟ်အရှင်မြတ်သည် နေ့နှင့်ညကို ဖန်ဆင်းထားတော်မူသည်။ လူသားတို့သည် နေ့တွင် လှုပ်ရှားသွားလာ၍ စားနပ်ရိက္ခာ ရှာဖွေကြသည်။ ညတွင် အိပ်စက်ကြသည်။ လူသားတို့အဖို့ နေ့နှင့်ညသည် မရှိမဖြစ်သော အရာများပင်။ ဤအကြောင်းနှင့်စပ်လျဉ်း၍ ကုရ်အာန် (၂၈း၇၃)၏ အဖွင့်တွင် အကျယ် ရေးသားခဲ့ပေပြီ။ ဤသည်လည်း အလ္လာဟ်အရှင်မြတ်၏ တန်ခိုးတော်၏ သက်သေလက္ခဏာတော်တစ်ပါးပင်။

(၂) **သက်သေလက္ခဏာတော် (စ)၊**

အလ္လာဟ်အရှင်မြတ်သည် ကောင်းကင်မှ အုံ့ဖွဲ့ယံသရဲ မိုးရွာသွန်းစေတော်မူ၏။ မြေသေကို ရှင်စေတော်မူ၏။ မိုးမရွာသွန်းမီ လျှပ်ပြက်စေတော်မူ၏။ လျှပ်ပြက်သည်ကို တွေ့မြင်ရသောအခါ လူသားသည် မိုးရွာမည်ကို တွေး၍ ဝမ်းသာ၏။ မိုးကြိုးလောင်မီးကျမည်ကိုလည်း စိုးရိမ်၏။ မိုးတိမ်များ တက်လာသည်ကို တွေ့မြင်ရသောအခါ လယ်ယာ ထွန်ယက်စိုက်ပျိုးရမည်ကို တွေး၍ဝမ်းသာ၏။ သို့ဝမ်းသာသည်နှင့်အမျှ မိုးသည်းထန်စွာ ရွာသွန်းပြီး ➤➤

وَمِنْ اٰيٰتِهٖٓ اَنْ تَقُوْمَ السَّمَاۤءُ وَالْاَرْضُ بِاَمْرِهٖ ۗ ثُمَّ اِذَا دَعَاكُمْ دَعْوَةً ۖ مِّنَ الْاَرْضِ ۖ اِذَآ اَنْتُمْ تَخْرُجُوْنَ ﴿٢٥﴾

၂၅။ ထိုမှတပါး ထိုအရှင်မြတ်၏ သက်သေလက္ခဏာတော်များအနက်မှပင်၊ မိုးကောင်းကင်နှင့် ပထဝီမြေ၏ ရပ်တည်နေခြင်းသည်လည်း ဖြစ်ပေသည်။ [၁] ထို့နောက် ထိုအရှင်မြတ်သည် အသင်တို့အား ပထဝီမြေမှ (ထွက်လာကြအံ့သောငှာ) တစ်ကြိမ်မျှ ဟစ်ခေါ်တော်မူသောအခါ ရုတ်တရက် အသင်တို့သည် ထွက်လာကြကုန်အံ့သတည်း။ [၂]

وَلَهٗ مَنْ فِى السَّمٰوٰتِ وَالْاَرْضِ ۗ كُلٌّ لَّهٗ قٰنِتُوْنَ ﴿٢٦﴾

၂၆။ ထိုမှတပါး မိုးကောင်းကင်များ၌ ရှိကြသူတို့သည်လည်းကောင်း၊ ပထဝီမြေ၌ ရှိကြသူတို့သည်လည်းကောင်း၊ ထိုအရှင်မြတ် ပိုင်ဆိုင်တော်မူသောသူများချည်းသာ ဖြစ်ကြကုန်၏။ (၎င်းတို့)အသီးသီးတို့မှာ ထိုအရှင်မြတ်၏ အမိန့်တော်များကို လိုက်နာကြကုန်၏။

وَهُوَ الَّذِيْ يَبْدَؤُا الْخَلْقَ ثُمَّ يُعِيْدُهٗ وَهُوَ اَهْوَنُ عَلَيْهِ ۗ وَلَهُ الْمَثَلُ الْاَعْلٰى

၂၇။ အမှန်သော်ကား ထိုအရှင်မြတ်သည်ပင် အဖန်ဆင်းခံတို့အား စတင်ဖန်ဆင်းတော်မူ၏။ ထို့နောက် ထိုအရှင်မြတ်သည်ပင် ယင်းအဖန်ဆင်းခံတို့ကို ထပ်မံ၍ ဖန်ဆင်းတော်မူမည်။ စင်စစ်သော်ကား ဤသည် ထိုအရှင်မြတ်အဖို့ သာ၍ပင် လွယ်ကူလှပေသည်။ [၃]

---

➤➤ ရေဘေးသင့်မည်ကိုလည်း စိုးရိမ်ကြောင့်ကြ၏။ ကြည့်-ကုရ်အာန် (၁၃း၁၂)။ ဤသည်ကိုထောက်ချင့်၍ လူသားများသည် အလ္လာဟ်အရှင်မြတ်၏ ကရုဏာတော်ကို မျှော်ကိုးရာ၏။ ထို့အတူ ထိုအရှင်မြတ်၏ ပြစ်ဒဏ်ကိုလည်း စိုးရိမ်ရာ၏။ ဤသည်လည်း အလ္လာဟ်အရှင်မြတ်၏ တန်ခိုးတော်၏ သက်သေလက္ခဏာတော်တစ်ပါးပင်။

(၁) **သက်သေလက္ခဏာတော် (ဆ)။**

အထက်တွင် မိုးကောင်းကင်နှင့်မြေကို ဖန်ဆင်းတော်မူသည့်အကြောင်းပါရှိ၏။ ယခု ဤအာယတ်တော်တွင် ထိုမိုးနှင့်မြေများ ရပ်တည်နေခြင်းမှာလည်း ထိုအရှင်မြတ်၏ အမိန့်တော်အရသာလျှင် ဖြစ်ကြောင်း မိန့်ဆိုထားတော်မူသည်။ ဆိုလိုသည်ကား အရာခပ်သိမ်းကုန်တို့၏ ဖြစ်ပေါ်မှု၊ ရပ်တည်မှု၊ ဆိတ်သုဉ်းမှုအစုစုတို့သည် အလ္လာဟ်အရှင်မြတ်၏ လက်တော်တွင်း၌သာ ရှိပေသည်။ ဤသည်လည်း အလ္လာဟ်အရှင်မြတ်၏ တန်ခိုးတော်၏ သက်သေလက္ခဏာတော်တပါးပင်။

فِي السَّمٰوٰتِ وَالْاَرْضِ ۚ وَهُوَ الْعَزِيْزُ الْحَكِيْمُ ﴿٢٧﴾

ထိုမှတပါး မိုးကောင်းကင်များ၌လည်းကောင်း၊ ပထဝီမြေ၌လည်းကောင်း၊ ထိုအရှင်မြတ်၌သာလျှင် ထူးကဲမြင့်မြတ်လှစွာမသော ဝိသေသဂုဏ်ထူးသည် ရှိပေသည်။ စင်စစ်သော်ကား ထိုအရှင်မြတ်သည် တန်ခိုးအာနုဘော်ဖြင့် လွှမ်းမိုးတော်မူသောအရှင်၊ ဆင်ခြင်တုံတရားနှင့် ပြည့်စုံတော်မူသောအရှင် ဖြစ်တော်မူပေသတည်း။

ضَرَبَ لَكُمْ مَّثَلًا مِّنْ اَنْفُسِكُمْ ۗ هَلْ لَّكُمْ مِّنْ مَّا مَلَكَتْ اَيْمَانُكُمْ مِّنْ شُرَكَآءَ فِيْ مَا رَزَقْنٰكُمْ فَاَنْتُمْ

**၂၈။** ထိုအရှင်မြတ်သည် အသင်တို့၏ ဖြစ်ရပ်များမှပင် အသင်တို့အဖို့ ဥပမာပုံဆောင်ချက်တစ်ခုကို ခိုင်းနှိုင်းတော်မူ၏။ အသင်တို့၌ မိမိတို့ကျွန်များအနက်မှ အသင်တို့အား ငါအရှင်မြတ်ချီးမြှင့်ပေးသနားတော်မူခဲ့သော (စားနပ်ရိက္ခာ) ဥစ္စာပစ္စည်းများတွင် ဖက်စပ်ပါဝင်သူများ ရှိကြပြီး အသင်တို့သည် ယင်းဥစ္စာပစ္စည်းတွင် ညီတူညီမျှဖြစ်ကြသည် ရှိသလော။

---

**(၂) ခေါ်တော်မူသည့်အခါ မြေမှ ထွက်လာကြရမည်သာ၊**

ဆိုလိုသည်ကား မိုး၊ မြေတို့သည် ရပ်တည်နေရန် အလ္လာဟ်အရှင်မြတ် အမိန့်တော်ရှိသည်နှင့်အမျှ ရပ်တည်နေပေမည်။ ဤစကြာဝဠာ၏ သက်တမ်း ကုန်ဆုံးသွားသည့်အခါ အရာခပ်သိမ်းကုန်တို့သည် ထိုအရှင်မြတ်၏ အမိန့်တော်ဖြင့်ပင် ဆိတ်သုဉ်းသွားပေမည်။ ဒုတိယစကြာဝဠာ ပေါ်လာပေမည်။ ထိုအခါ ထိုအရှင်မြတ် တစ်ကြိမ်ခေါ်တော်မူရုံဖြင့် လူသားအားလုံးတို့သည် မြေမှအသီးသီး ထွက်ပေါ်လာကြပေမည်။
(၃) အလ္လာဟ်အရှင်မြတ်၏ တန်ခိုးတော်အနန္တ၏ရှေ့မှောက်တွင် တစ်စုံတစ်ရာကို စတင်ဖန်ဆင်းခြင်း၊ ပြန်လည်ဖန်ဆင်းခြင်းသည် အတူတူပင်။ လူသားတို့အဖို့မှာမူ အရာတစ်ခုကို စတင်ပြုလုပ်ခြင်းသည် ခက်ခဲသည်၊ ထိုအရာကို ပြန်လည်ပြုလုပ်ခြင်းသည် လွယ်ကူသည်။ အရဗ် ကာဖိရ်မုရှ်ရစ်က်တို့သည် အလ္လာဟ်အရှင်မြတ်အား ဤစကြာဝဠာကို စတင်ဖန်ဆင်းတော်မူသော အရှင်အဖြစ်လက်ခံကြသည်။ သို့ရာတွင် ဤစကြာဝဠာကြီး ဆိတ်သုဉ်းသွားပြီးနောက် ဒုတိယတစ်ဖန် ပြန်လည်ဖန်ဆင်းမည်ကိုမူ လက်မခံကြပေ။ အရဗ်ကာဖိရ် မုရှ်ရစ်က်တို့၏ စကားသည် ရှေ့နောက်မညီပေ။ အမှန်မှာ စကြာဝဠာအဝှန်းကို စတင်ဖန်ဆင်းတော်မူသော အရှင်မြတ်အဖို့ ပြန်လည်ဖန်ဆင်းတော်မူခြင်းမှာ လူသား၏အမြင်မှာပင် ပို၍လွယ်ကူသည် မဟုတ်ပါလော။

فِيهِ سَوَآءٌ تَخَافُونَهُمْ كَخِيفَتِكُمْ أَنفُسَكُمْ كَذَٰلِكَ نُفَصِّلُ الْآيَاتِ لِقَوْمٍ يَعْقِلُونَ ۝٢٨

(၎င်းပြင်) အသင်တို့သည် မိမိတို့အချင်းချင်းနှင့် ပတ်သက်၍ စိုးရိမ်ကြဘိသကဲ့သို့ပင်၊ ၎င်းတို့နှင့် ပတ်သက်၍လည်း *စိုးရိမ်ကြသည်(ဟူ၍ရှိပါသလော၊)*[1] ငါအရှင်မြတ်သည် အသိဉာဏ်ရှိသူတို့အဖို့ သက်သေသာဓက အထောက်အထားများကို ဤနည်းအတိုင်းပင် ရှင်းလင်းထင်ရှားစွာ ထုတ်ဖော်မိန့်ကြားတော်မူ၏။

---

(၁) **'ရှိရ်က်' ၏ မှားယွင်းမှု၏ ပုံဆောင်ချက်တစ်ရပ်၊**

'ရှရစ်က်'၏ မှားယွင်းမှုကို ထင်ရှားစေရန်အတွက် ဤအာယတ်တော်တွင် လူသားတို့၏ဖြစ်ရပ်များမှ ကောက်နုတ်၍ ပုံဆောင်ချက်တစ်ရပ် ဤသို့ မိန့်ဆိုထားတော်မူသည်။ အသင်တို့၌ ကျေးကျွန်များရှိသည်။ အသင်တို့သည် ထိုကျေးကျွန်များ၏ သခင်များဖြစ်ကြသည်။ (ကျွန်သည် အမှန်ကျွန်မဟုတ်၊ သခင်သည် အမှန်သခင်မဟုတ်၊ ဤသည် 'မုချ'မဟုတ်၊ 'ဥပစာ'မျှသာဖြစ်သည်။ သာမန်အကြောင်းများကြောင့် 'ကျွန်'၊ 'သခင်' စသည်ဖြင့် ခေါ်ဝေါ်နေကြခြင်းသာ ဖြစ်သည်။) ထိုကျေးကျွန်များသည် အသင်တို့အား အလ္လာဟ်အရှင်မြတ် ပေးသနားထားတော်မူသော ဥစ္စာပစ္စည်းများတွင် မိမိတို့နှင့် တန်းတူ၊ရည်တူ၊ ဖက်စပ်ပါဝင်သူများအဖြစ် လက်ခံကြသလော။ ဖက်စပ်ပိုင်ဆိုင်သော ပစ္စည်းများကို ခွဲဝေသုံးစွဲရာတွင် ဖက်စပ်ပါဝင်သူများ၏ မကျေနပ်မှု၊ ကန့်ကွက်မှုများ ဖြစ်ပေါ်လာမည်ကို စိုးရိမ်ကြရသကဲ့သို့ အသင်တို့သည် မိမိတို့၏ ကျေးကျွန်များဘက်မှ ယင်းသို့ မကျေနပ်မှု၊ကန့်ကွက်မှုများ ဖြစ်ပေါ်လာမည်ကို စိုးရိမ် ကြသလော။

ထိုသို့အလျှင်းမဟုတ်၊ အသင်တို့သည် မိမိတို့၏ ပစ္စည်းများတွင် မိမိတို့၏ ကျေးကျွန်များကို ဖက်စပ်ပါဝင်သူများအဖြစ် လက်ခံကြသည်လည်း မဟုတ်၊ ထိုကျေးကျွန်များဘက်မှ တစ်စုံတစ်ရာ ကန့်ကွက်မှု၊ မကျေနပ်မှုများဖြစ်ပေါ်လာမည်ကို စိုးရိမ်ကြသည်လည်း မဟုတ်၊ သာမန်သခင်များသည်ပင် မိမိတို့၏ ဥစ္စာပစ္စည်းတွင် မိမိတို့၏ကျေးကျွန်များကို ဖက်စပ်ပါဝင်ကြသူများ အဖြစ် လက်မခံကြလျှင်၊ ကျေးကျွန်များဘက်မှ ဖြစ်ပေါ်လာမည့် မကျေနပ်မှု၊ ကန့်ကွက်မှုများကို ဂရုမမူကြလျှင် အမှန်တကယ် အရှင်သခင်ဖြစ်တော်မူသော အလ္လာဟ်အရှင်မြတ်သည် မိမိ၏ အဖန်ဆင်းခံကျွန်များအား မိမိ၏ပိုင်ဆိုင်မှုတွင် ဖက်စပ်ပါဝင်သူများအဖြစ်၊ တွဲဖက်ယှဉ်ဖက်များအဖြစ် အသို့လျှင် လက်ခံတော်မူမည်နည်း။ ယင်းအဖန်ဆင်းခံ ကျေးကျွန်တို့ဘက်မှ ဖြစ်ပေါ်လာမည့်အန္တရာယ်များကို အသို့လျှင် ဂရုပြုတော်မူမည်နည်း။

အမှန်မှာ လူကျွန်နှင့်လူသခင် နှစ်ဦးလုံးတို့သည်ပင် အလ္လာဟ်အရှင်မြတ်၏ အဖန်ဆင်းခံကျွန်များသာ ဖြစ်ကြပေသည်။ ထိုအရှင်မြတ် ကျွေးမွေးထားတော်မူသော စားနပ်ရိက္ခာများကိုသာ စားသုံးနေကြရသည်။ သို့ပါလျက် သာမန်ကျွန်တစ်ယောက်သည် သာမန်သခင်တစ်ယောက်၏ ပစ္စည်းတွင် ဖက်စပ်ပါဝင်နိုင်ခြင်းမရှိပေရာ၊ အရာခပ်သိမ်းကုန်တို့ကို ဖန်ဆင်းတော်မူသော အလ္လာဟ်အရှင်မြတ်၏ ပိုင်ဆိုင်မှုတွင် ထိုအရှင်မြတ်၏ အဖန်ဆင်းခံများသာ ဖြစ်သောကျွန်များသည် အသို့လျှင် ဖက်စပ်ပါဝင်နိုင်သူများ ဖြစ်နိုင်ကြအံ့နည်း။ ဤသည့်အချက်ကို စဉ်းစားဆင်ခြင်ပါက 'ရှရစ်က်' ယှဉ်တွဲကိုးကွယ်မှုသည် အဘယ်မျှမှားယွင်းကြောင်း စက်ဆုပ်ရွံရှာဖွယ်ရာ ဖြစ်ကြောင်းကို ကောင်းစွာသိနိုင်ပေသည်။

بَلِ اتَّبَعَ الَّذِيْنَ ظَلَمُوْٓا اَهْوَآءَهُمْ بِغَيْرِ عِلْمٍ ۚ فَمَنْ يَّهْدِيْ مَنْ اَضَلَّ اللّٰهُ ۗ وَمَا لَهُمْ مِّنْ نّٰصِرِيْنَ ﴿٢٩﴾

၂၉။ သို့ပါလျက် မတရားပြုလုပ်ကြသော သူတို့မှာမူကား၊ သက်သေအထောက်အထား မရှိဘဲလျက် မိမိတို့၏စိတ်အလိုဆန္ဒများကိုသာ လိုက်နာလိုက်စားခဲ့ကြကုန်၏။ သို့ဖြစ်ပေရာ အလ္လာဟ်အရှင်မြတ်က လမ်းမှားစေတော်မူခဲ့သောသူအား တရားလမ်းမှန်ကို မည်သူ ညွှန်ကြားပြသနိုင်မည်နည်း။ ထိုမှတပါး ၎င်းတို့၌ ယိုင်းပင်းကူညီသူများဟူ၍လည်း ရှိကြမည် မဟုတ်ပေတကား။

فَاَقِمْ وَجْهَكَ لِلدِّيْنِ حَنِيْفًا ۗ فِطْرَتَ اللّٰهِ الَّتِيْ فَطَرَ النَّاسَ عَلَيْهَا ۗ لَا تَبْدِيْلَ لِخَلْقِ اللّٰهِ ۗ ذٰلِكَ الدِّيْنُ الْقَيِّمُ ۙ وَلٰكِنَّ اَكْثَرَ النَّاسِ لَا يَعْلَمُوْنَ ﴿٣٠﴾

၃၀။ သို့ဖြစ်ပေရာ အသင်(လူသား)သည် လူသားတို့အား အလ္လာဟ်အရှင်မြတ် ဖန်ဆင်းတော်မူခဲ့သော *သဘာဝဓမ္မနှင့်အညီ* [၁] မိမိ၏မျက်နှာကို (မှန်ကန်သော) "ဒီန်" သာသနာအပေါ်၌ အာရုံစူးစိုက်လျက် ခိုင်ခံ့တည်တံ့စွာထားရှိလေ။ အလ္လာဟ်အရှင်မြတ်၏ ဖန်ဆင်းမှုတွင် မည်သည့်ပြောင်းလွဲမှုမျှ အလျှင်းမရှိပြီ။ ဤသည်ပင်လျှင် *ဖြောင့်မတ်မှန်ကန်သော "ဒီန်" သာသနာဖြစ်၏။* [၂] သို့တစေလည်း အများဆုံးသော သူတို့မှာမူကား မသိနားမလည်ကြပေ။

---

(၁) အလ္လာဟ်အရှင်မြတ်သည် လူသားတို့အား စတင်ဖန်ဆင်းတော်မူရာတွင် ၎င်း၏ မူလ၊ဗီဇသဘာဝ၌ သီးသန့် အရည်အချင်းတစ်ရပ်ကို ထည့်သွင်းထားတော်မူသည်။ အကယ်၍ ထိုလူသားသည် အမှန်တရားကို သိနားလည်လိုက၊ နာယူကျင့်မူလိုက ထိုသည့်အရည်အချင်းဖြင့် သိနားလည်နိုင်ပေသည်။ နာယူကျင့်မူနိုင်ပေသည်။ ထိုအရှင်မြတ်သည် မူလအစကပင် လူသား၏စိတ်နှလုံး၌ မိမိအားအကျဉ်းအားဖြင့် သိရှိနိုင်ရန်အတွက် လင်းရောင်ခြည်ကို ဓမ္မဗီဇအဖြစ် ထည့်သွင်းပေးသနားတော် မူထားသည်။ အကယ်၍ လူသားသည် မိမိပတ်ဝန်းကျင်၏ ဂယက်များ၏ မကောင်းသောအကျိုးဆက်များနှင့် ကင်းစင်သည်ရှိသော်၊ မိမိ၏မူလသဘာဝ ဗီဇအပေါ်၌ပင် တည်ရှိနေသော် ထိုလူသားသည် အမှန်ပင်အမှန်တရားကို လက်ခံနာယူကျင့်မူမည်သာ ဖြစ်သည်။ အမှန်တရားမှအပ အခြားသို့ တိမ်းစောင်းသွားမည် မဟုတ်ပေ၊ ဝိညာဉ်လောကတွင် လူသားတို့ထံမှ အလ္လာဟ်အရှင်မြတ် ယူတော်မူခဲ့သည့် ကတိဝန်ခံချက်မှာလည်း ဤသည်ကိုပင် ရည်ညွှန်းပေသည်။ ကြည့်-ကုရ်အာန် (၇း၁၇၂)။

ဟဒီးဆ်သြဝါဒတော်များတွင်လည်း ကလေးတိုင်းသည် (အစ္စလာမ်)၏သဘာဝဓမ္မပေါ်၌ပင် မွေးဖွားလာသည်ဖြစ်ကြောင်း၊ ထို့နောက် ၎င်း၏မိဘနှစ်ပါးသည် ၎င်းအားယဟူဒီ၊ နဆွာရာနီ၊ မဂျူစီ ဖြစ်စေကြသည်ဖြစ်ကြောင်း လာရှိပေသည်။ 'ဟဒီးဆ်ကုဒ်စီ'၌ "ငါအရှင်မြတ်သည် မိမိ၏ကျွန်များအား (ဟုနဖာ) အမှားရှောင်၍ အမှန်၏ ➤➤

مُنِيبِينَ إِلَيْهِ وَاتَّقُوهُ وَأَقِيمُوا الصَّلَوٰةَ وَلَا تَكُونُوا مِنَ الْمُشْرِكِينَ ﴿٣١﴾

၃၁။ ထိုအရှင်မြတ်ဘက်သို့သာလျှင် ပြန်လှည့်ကြသူများအဖြစ် (အစ္စလာမ်၏ သဘာဝဓမ္မကို နာယူကျင့်မူကြကုန်)။ ထို့ပြင် အသင်တို့သည် ထိုအရှင်မြတ်အား ကြောက်ရွံ့ရိုသေခန့်ညားကြလေကုန်။ ထိုမှတပါး အသင်တို့သည် "ဆွလာတ်" ဝတ်ပြုမှုကို ဆောက်တည်ကြလေကုန်။ ထို့ပြင် အသင်တို့သည် "မုရှ်ရစ်က်" တစ်စုံတစ်ရာကို အလ္လာဟ်အရှင်မြတ်နှင့် တွဲဖက်ရှိုးယှဉ်ကိုးကွယ်သူတို့အနက်မှ မဖြစ်ကြကုန်လင့်။ [၁]

---

➤➤ တရားပေါ်၌ပင် ရပ်တည်သူများအဖြစ် ဖန်ဆင်းတော်မူခဲ့သည်။ ထို့နောက် ရှိုင်တွာန်များသည် ၎င်းတို့အား သွေးဆောင်ဖြားယောင်းပြီး အမှန်တရားမှ လွဲမှားစေကြသည်" ဟူ၍လာရှိသည်။

အသို့ပင်ရှိစေ၊ လူသားတစ်ဦးသည် မိမိ၏ မူလ၊မွေးဗီဇအပေါ်၌ ရပ်တည်နေပါက ထိုလူသားသည် မိမိ၏ သဘာဝအလျောက် အမှန်တရားကို လက်ခံနာယူကျင့်မူမည်သာ ဖြစ်သည်။ အလ္လာဟ်အရှင်မြတ်သည် လူသားအားလုံးတို့အား ဤသည့်မှန်ကန်သည့် သဘာဝဓမ္မအပေါ်၌ပင် ဖန်ဆင်းတော်မူသည်။ ဤသည် သဘာဝဓမ္မတွင် မည်သို့မျှ အပြောင်းအလဲမရှိ။ အကယ်တန္တ ဖိရ်အောင်န်နှင့်အဗူဂျဟ်လ်၌ ယင်းသည့် သဘာဝဓမ္မမရှိပါက အသက်မဲ့များနှင့် တိရစ္ဆာန်တို့၌ တရားဓမ္မ ကိုနာယူရန် တာဝန်မရှိသကဲ့သို့ ၎င်းတို့၌လည်း တာဝန်ရှိမည်မဟုတ်ပေ။ ဤသည်ကို ထောက်ရှုခြင်းအားဖြင့် လူသားတိုင်းသည် ယင်းသည့် သဘာဝဓမ္မအပေါ်၌ မွေးဖွားလာကြောင်း၊ လူတိုင်း၌ ယင်းသည့် သဘာဝဓမ္မရှိကြောင်း ကောင်းစွာ သိရှိရပေသည်။ ဤသည့် သဘာဝဓမ္မရှိမှုကြောင့်ပင် အစ္စလာမ်၏များစွာသော အခြေခံမူ သဘောတရားများကို လူတိုင်းလိုလိုပင် တိကျမှန်ကန်စွာ နာယူကျင့်မူခြင်း မရှိသော်လည်း တနည်းတဖုံ လက်ခံကြပေသည်။

**မှတ်ချက်**

ဤအာယတ်တော်ကို ထောက်ရှုခြင်းအားဖြင့် အစ္စလာမ်သည် သဘာဝဓမ္မနှင့် လုံးဝကိုက်ညီကြောင်း၊ သဘာဝဓမ္မတွင် အပြောင်းအလဲလုံးဝမရှိကြောင်း၊ သို့ဖြစ်ရာ အစ္စလာမ်တွင်အပြောင်းအလဲပြုလုပ်ရန် ကြိုးစားခြင်းသည် အသိဉာဏ်ကင်းမဲ့သူတို့၏ အကျိုးမဲ့အပြုအမူသာဖြစ်မည် ဖြစ်ကြောင်းကို ကောင်းစွာ သိရှိနိုင်ပေသည်။ (ကြည့်-မာဂျိဒီ။)

(၂) ဤအာယတ်တော်သည် လူသားအသီးသီးတို့အား ရည်ညွှန်း မိန့်ဆိုထားတော်မူသော အာယတ်တော်ဖြစ်သည်။ ဆိုလိုသည်ကား စိတ်နောက်ကိုယ်ပါဖြစ်ကာ လွဲမှားမှုများတွင် အနစ်မွန်းကြီးနစ်မွန်းကာ လွဲမှားမှုမှ မည်သို့မျှ မထွက်လိုသော သူများအား လျစ်လျူရှုထားရမည်သာ။ မိမိမှာမူ လွဲမှားမှုအားလုံးကို လွှဲဖယ်ကာ တစ်ဆူတည်းဖြစ်တော်မူသော အလ္လာဟ်အရှင်မြတ်အား ခယ၊ရိုကျိုး၊ရှိခိုး၍ ထိုအရှင်မြတ်၏ ဖြောင့်မတ်မှန်ကန်သော သာသနာကို သာလျှင် လုံ့လဝီရိယကြီးစွာဖြင့် တစ်စိတ်တလက်တည်း ဆုပ်ကိုင်ထားရမည်သာ။

(၁) အစ္စလာမ်သည် သဘာဝဓမ္မနှင့် လုံးဝကိုက်ညီသည်။ ဤသည်နှင့် စပ်လျဉ်း၍ အစ္စလာမ်၏ အချို့အဓိကကျသော တာဝန်များကို အောက်ပါအတိုင်း မိန့်ဆိုထားတော်မူသည်။ ➤➤

مِنَ الَّذِينَ فَرَّقُوا دِينَهُمْ وَكَانُوا شِيَعًا ۖ كُلُّ حِزْبٍ بِمَا لَدَيْهِمْ فَرِحُونَ ﴿٣٢﴾

၃၂။ အကြင် (မုရှ်ရစ်က်) တို့အနက်မှ ထိုသူတို့သည် မိမိတို့၏ "ဒီန်"သာသနာကို အစိတ်စိတ် အပိုင်းပိုင်း ပြုလုပ်ခဲ့ကြပြီးလျှင် ဂိုဏ်းဂဏအမျိုးမျိုး ဖြစ်သွားခဲ့ကြကုန်၏။ (၎င်းတို့အနက်) ဂိုဏ်းဂဏ အသီးသီး အသကအသကတို့သည် မိမိတို့၌ရှိသော (ဝါဒလမ်းစဉ်များ)နှင့်ပင် ကျေနပ်ဝမ်းမြောက်လျက် ရှိကြပေသတည်း။ ၁

---

➤➤ ၁။ တစ်ဆူတည်း ဖြစ်တော်မူသော အလ္လာဟ်အရှင်မြတ် ထံတော်သို့လှည့်ကာ အစ္စလာမ်၏ သဘာဝဓမ္မကို နာယူကျင့်မူကြရမည်။
၂။ အလ္လာဟ်အရှင်မြတ်အား အခါခပ်သိမ်း ကြောက်ရွံ့ရိုသေ ခန့်ညားကြရမည်။
၃။ စနစ်တကျ ဆွလာတ်ဆောက်တည်ကြရမည်။
၄။ မုရှ်ရစ်က်တို့နှင့် ဝေးစွာ ရှောင်ကြဉ်ကြရမည်။
၅။ သာသနာရေးတွင် ဂိုဏ်းဂဏ မခွဲကြရ။

① အစ္စလာမ်၏ သဘာဝဓမ္မကိုဆန့်ကျင်၍ ရှရစ်က်အမှုအစုစုတွင် နစ်မွန်းနေကြသော မုရှ်ရစ်က်တို့တွင် အခြေခံယုံကြည်ချက်၊ ကိုးကွယ်ရာ အမျိုးမျိုးအစားစား အပြားပြားဖြစ်လာကာ အောက်ခြေမှထိပ်ဖျားအထိ အတောမသတ်ခြားနားခဲ့ကြသည်။ သာသနာရေးတွင် ဂိုဏ်းဂဏအမျိုးမျိုး ခွဲခဲ့ကြသည်။ ယုံကြည်ချက်အမျိုးမျိုး လုပ်ငန်းစဉ်အစားစား ပုံပန်းသဏ္ဌာန် အပြားပြား ဖြစ်လာခဲ့ကြသည်။ ယင်းသည့်အထဲတွင် တစ်ဦးတစ်ယောက်က စိတ်ကူးပေါက်၍ ယုံကြည်ချက်အသစ်ထွင်ကာ လုပ်ငန်းစဉ်အသစ်တစ်ရပ် သတ်မှတ်လိုက်ပြန်သော် ကွဲပြားနေသော ဂိုဏ်းဂဏများထဲမှပင် အချို့သူများသည် ထိုပုဂ္ဂိုလ်နောက်သို့ လိုက်ကြပြန်သည်။ ဤသို့ဖြင့်ကွဲရာမှ အဆင့်ဆင့် ကွဲကာ အတောမသတ် ကွဲခဲ့ကြလေသည်။

ထို့ပြင်တဝ အဆိုပါ ဂိုဏ်းဂဏအသီးသီးတို့သည် မိမိတို့၏ယုံကြည်ချက် လုပ်ငန်းစဉ်များကို အဘယ်မျှပင် မှားယွင်းနေလင့်ကစား၊ အဘယ်မျှပင် ရယ်ဖွယ်ရာဖြစ်နေလင့်ကစား ဖွတ်မိုတ်၍ ဆုပ်ကိုင်ထားကြသည်။ ကိုယ့်ငါးချဉ် ကိုယ်ချဉ်နေကြသည်။ ကိုယ့်ယုံကြည်ချက်နှင့်ကိုယ်၊ ကိုယ့်လုပ်ငန်းစဉ်နှင့်ကိုယ်၊ ကိုယ့်ဂိုဏ်းနှင့် ကိုယ် အပျော်ကြီးပျော်နေကြသည်။ အမှားကြီး မှားနေကြသည်။ ဤကား ရှရစ်က်၏ အကျိုးဆက်ပင်။

အစ္စလာမ်ကား ထိုသို့မဟုတ်၊ အစ္စလာမ်သည် ညီညွတ်မှုကို အထူးလိုလားသည်။ ကွဲပြားမှုကို အလွန်စက်ဆုပ်သည်။ အဘယ်ကြောင့်ဆိုသော် အစ္စလာမ်၏ အဓိက အခြေခံယုံကြည်ချက်မှာ (တောင်ဟီးဒ်) တဆူတည်း ဖြစ်တော်မူသော အလ္လာဟ်အရှင်မြတ်အား ယုံကြည်ကိုးကွယ်ခြင်းပင်ဖြစ်သည်။ တစ်ဆူတည်း ဖြစ်တော်မူသော အလ္လာဟ်အရှင်မြတ် သတ်မှတ်ပြဋ္ဌာန်း ပေးထားတော်မူသော အစ္စလာမ်၏ ကျင့်စဉ်ကျင့်ရပ် အားလုံးတို့သည်လည်း တစ်ဆူတည်းဖြစ်တော်မူသော အလ္လာဟ်အရှင်မြတ် ထံတော်သို့သာဦးတည်ကာ ညီညွတ်မှုကို ရှေ့ရှုထားသည်။ အစ္စလာမ်ကိုရိုးသားစွာ ဆုပ်ကိုင်ထားပါက ကွဲရန်အကြောင်းပင် မရှိပေ။

وَإِذَا مَسَّ النَّاسَ ضُرٌّ دَعَوْا رَبَّهُم مُّنِيبِينَ إِلَيْهِ ثُمَّ إِذَا أَذَاقَهُم مِّنْهُ رَحْمَةً إِذَا فَرِيقٌ مِّنْهُم بِرَبِّهِمْ يُشْرِكُونَ ﴿٣٣﴾

၃၃။ စင်စစ်သော်ကား လူတို့၌ ဘေးဥပဒ်တစ်စုံတစ်ရာ သက်ရောက်လေသောအခါ ၎င်းတို့သည် မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်ဘက်တော်သို့ ပြန်လှည့်ကြလျက် ထိုအရှင်မြတ်အား ဟစ်ခေါ်တသကြကုန်၏။ ထို့နောက် ထိုအရှင်မြတ်သည် ၎င်းတို့အား မိမိအထံတော်မှ အနည်းငယ်ကျေးဇူးတော်ရသာကို မြည်းစမ်းစေတော်မူသောအခါ ၎င်းတို့အနက် လူတစ်စုသည် မဆိုင်းမငံ့ ရုတ်တရက် ချက်ချင်းပင်လျှင် (အခြားအရာများကို) မိမိတို့အား ဖန်ဆင်းမွေးမြူ တော်မူသော အရှင်မြတ်နှင့် တွဲဖက်နိုင်းယှဉ် ကိုးကွယ်ကြလေ၏။ [၁]

لِيَكْفُرُوا بِمَا آتَيْنَاهُمْ فَتَمَتَّعُوا فَسَوْفَ تَعْلَمُونَ ﴿٣٤﴾

၃၄။ ၎င်းတို့သည် ငါအရှင်မြတ် ၎င်းတို့အား ချီးမြှင့်ပေးသနားတော်မူခဲ့သော ကျေးဇူးတော်များကို ငြင်းပယ် ကျေးဇူးကန်းကြအံ့သောငှာ (တွဲဖက်ကိုးကွယ်မှုကို ပြုကြကုန်၏)။ သို့ဖြစ်ပေရာ အသင်တို့သည် (အခိုက်အတန့်အားဖြင့်) အကျိုးကျေးဇူး ခံစားကြလေကုန်။ ထို့နောက် မကြာမြင့်မီပင် အသင်တို့သည် သိရှိကြရပေမည်။

أَمْ أَنزَلْنَا عَلَيْهِمْ سُلْطَانًا فَهُوَ يَتَكَلَّمُ بِمَا كَانُوا بِهِ يُشْرِكُونَ ﴿٣٥﴾

၃၅။ အသို့ပါနည်း ငါအရှင်မြတ်သည် ၎င်းတို့အပေါ်၌ သက်သေအကိုးအကား အထောက်အထား တစ်စုံတစ်ရာကို ချပေးတော်မူခဲ့၍ ယင်းသက်သေအထောက်အထားက ပြောဆိုသောကြောင့် ၎င်းတို့သည် တွဲဖက်နိုင်းယှဉ်ကိုးကွယ်ကြလေသလော။

---

(၁) ဤအာယတ်တော်နှင့် အနက်သဘောတူ အာယတ်တော်များသည် ကုရ်အာန် (၁၀း၁၂။ ၁၇း၆၇)တွင် လာရှိခဲ့ချေပြီ၊ သက်ဆိုင်ရာအဖွင့်များကိုလည်း ရေးသားခဲ့ချေပြီ၊ ပြန်လည်ရှုကြပါကုန်။

٣٦။ ထိုမှတပါး ငါအရှင်မြတ်သည် လူသားတို့အား အနည်းငယ်သော ကျေးဇူးတော်၏ အရသာကို မြည်းစမ်းစေတော်မူသောအခါ ၎င်းတို့သည် ယင်းကျေးဇူးတော်နှင့် စပ်လျဉ်း၍ ဝမ်းမြောက်လေ့ ရှိကြကုန်၏။ သို့ရာတွင် အကယ်၍ ၎င်းတို့၏လက်များက ကြိုတင်ပို့နှင့်ခဲ့ကြသော (ပြစ်မှုဒုစရိုက်)များကြောင့် ၎င်းတို့၌ ဘေးဒုက္ခ တစ်စုံတစ်ရာ သက်ရောက်သည်ရှိသော် ၎င်းတို့သည် ရုတ်တရက် ချက်ချင်းပင် မျှော်လင့်ချက်ကင်းမဲ့၍ သွားကြလေ၏။

وَإِذَآ أَذَقْنَا ٱلنَّاسَ رَحْمَةً فَرِحُوا۟ بِهَا ۖ وَإِن تُصِبْهُمْ سَيِّئَةٌۢ بِمَا قَدَّمَتْ أَيْدِيهِمْ إِذَا هُمْ يَقْنَطُونَ ٣٦

٣٧။ ဧကန်မလွဲ အလ္လာဟ်အရှင်မြတ်သည် မိမိအလိုရှိတော်မူသောသူအား စားနပ်ရိက္ခာကို ကျယ်ပြန့်စွာ ချီးမြှင့်ပေးသနားတော်မူ၍ (မိမိအလိုရှိတော်မမူသောသူအား ထိုစားနပ်ရိက္ခာကို) ကျပ်တည်းစေတော်မူသည်ကို ၎င်းတို့သည် မမြင်ခဲ့ကြလေသလော။[၁] ဧကန်မုချ ဤသည်၌ 'မုအ်မင်န်' သက်ဝင်ယုံကြည်သူတို့အဖို့ (များစွာသော) သက်သေလက္ခဏာများသည် ရှိပေသတည်း။

أَوَلَمْ يَرَوْا۟ أَنَّ ٱللَّهَ يَبْسُطُ ٱلرِّزْقَ لِمَن يَشَآءُ وَيَقْدِرُ ۚ إِنَّ فِى ذَٰلِكَ لَءَايَٰتٍ لِّقَوْمٍ يُؤْمِنُونَ ٣٧

---

① လူ၂–ယောက်သည် တစ်ချိန်တည်းတွင် တမျိုးတစားတည်း စီးပွားရှာဖွေကြသည်။ ထို၂–ဦး၏ ပညာအရည်အချင်း၊ လုပ်ရည်ကိုင်ရည်၊ ကြံရည်ဖန်ရည် တို့သည်လည်း တူညီသည်။ သို့တစေလည်း ထို–၂–ဦးအနက် တစ်ဦးသည် ချမ်းသာကြွယ်ဝသည်။ အခြားတစ်ဦးမှာ ခဲလေသမျှ သဲရေကျဖြစ်ရသည်။ အသို့ပါနည်း၊ အကြောင်းကား လူ့လောကတွင် တွေ့ကြုံနေရသော သုခ၊ ဒုက္ခ၊ ကြွယ်ဝမှု၊ ဆင်းရဲမှု၊ အောင်မြင်မှု၊ ဆုံးရှုံးမှု အစုစုတို့၏ အကြောင်းတရားများသည် အလ္လာဟ်အရှင်မြတ်၏ လက်တော်တွင်း၌သာ ရှိပေသည်။ ထိုအရှင်မြတ်သည် မိမိ၏အလိုတော်အတိုင်း ကြွယ်ဝစေလိုသူအား ကြွယ်ဝစေတော်မူသည်။ ဆင်းရဲစေလိုသူအား ဆင်းရဲစေတော်မူသည်။

သို့ဖြစ်ရာ လူသားတို့သည် အခါခပ်သိမ်း အလ္လာဟ်အရှင်မြတ် စီမံပြုလုပ်တော်မူသည်များကို ကျေနပ်ကြရမည်သာ။ ဥပမာ– သုခဖြစ်လျှင် ထိုအရှင်မြတ်အား ကျေးဇူးတင်ရမည်သာ။ ထိုသုခ ပပျောက်မသွားစေရန် အတွက် ထိုအရှင်မြတ်အား ကြောက်ရွံ့ရိုသေ ခန့်ညားနေရမည်သာ။ ထို့အတူ ဒုက္ခဖြစ်လျှင်လည်း ခံရမည်သာ၊ ထိုဒုက္ခ ကင်းဝေးသွား စေရန်အတွက် အရှင်မြတ်ထံတော်၌ မျှော်ကိုးအားထားရမည်သာ။

فَاٰتِ ذَا الْقُرْبٰى حَقَّهٗ وَالْمِسْكِيْنَ وَابْنَ السَّبِيْلِ ؕ ذٰلِكَ خَيْرٌ لِّلَّذِيْنَ يُرِيْدُوْنَ وَجْهَ اللّٰهِ ۫ وَاُولٰٓئِكَ هُمُ الْمُفْلِحُوْنَ ﴿٣٨﴾

၃၈။ သို့ဖြစ်ပေရာ အသင်သည် သွေးရင်းသားရင်းတို့၏ အခွင့်အရေးကို ပေးဆောင်လော့။ ထို့ပြင် သူဆင်းရဲအားလည်းကောင်း၊ ခရီးသည်အားလည်းကောင်း၊ (ပေးကမ်းလှူဒါန်းလေ)။ ဤသည်ကား အလ္လာဟ်အရှင်မြတ်၏ နှစ်သက်ကျေနပ်မှုကို လိုလားကြသောသူတို့အဖို့ အကောင်းဆုံးပင်ဖြစ်၏။ စင်စစ်သော် ယင်းကဲ့သို့သော သူတို့သည်သာလျှင် အောင်မြင်မှု ရရှိကြအံ့သောသူများ ဖြစ်ကြကုန်၏။ ၁

وَمَآ اٰتَيْتُمْ مِّنْ رِّبًا لِّيَرْبُوَا۟ فِيْٓ اَمْوَالِ النَّاسِ فَلَا يَرْبُوْا عِنْدَ اللّٰهِ ۚ وَمَآ اٰتَيْتُمْ مِّنْ زَكٰوةٍ تُرِيْدُوْنَ وَجْهَ اللّٰهِ فَاُولٰٓئِكَ هُمُ الْمُضْعِفُوْنَ ﴿٣٩﴾

၃၉။ စင်စစ်မှာမူကား အသင်တို့သည် လူတို့၏ ပစ္စည်းများတွင် (ရောစပ်၍) တိုးပွားပြီးလျှင် အသင်တို့ထံ ရောက်လာရန် ပေးခဲ့ကြသော လက်ဆောင်ပစ္စည်းမှာ အလ္လာဟ်အရှင်မြတ် အထံတော်တွင် တိုးပွားသည်မဟုတ်ပေ။ သို့ရာတွင် အသင်တို့သည် အလ္လာဟ်အရှင်မြတ်၏ နှစ်သက်ကျေနပ်မှုကို လိုလား၍ တစုံတရာ အလှူဒါနကို ပေးကမ်းလှူဒါန်းကြပါမူ၊ ယင်းကဲ့သို့ (ပေးကမ်းလှူဒါန်းကြ)သောသူတို့သာလျှင် (မိမိတို့ပေးကမ်းလှူဒါန်းခဲ့ကြသည်များကို အလ္လာဟ်အရှင်မြတ် အထံတော်၌) တိုးပွားစေကြသူများဖြစ်ကြကုန်၏။ ၂

---

(၁) သဘာဝဓမ္မအရလည်း အရာခပ်သိမ်းကုန်တို့ကို အမှန်တကယ် စိုးပိုင်တော်မူသော အရှင်မှာ အလ္လာဟ်အရှင်မြတ်ပင် ဖြစ်ကြောင်း၊ လောကီသုခချမ်းသာ အဖြာဖြာတို့မှာလည်း ထိုအရှင်မြတ် ပေးသနားတော်မူသော အရာများချည်းသာဖြစ်ကြောင်း ထင်ရှားပေရာ၊ ထိုအရှင်မြတ်၏ နှစ်သက်မှုကို လိုလားသူများ၊ ထိုအရှင်မြတ်အား ဖူးတွေ့လိုသူများသည် ထိုအရှင်မြတ်၏ လမ်းတော်တွင် ထိုအရှင်မြတ်ပေးသနားတော်မူသော အရာများအနက်မှ အချို့အဝက်ကို စားဝတ်နေရေး အဆင်မပြေသော ဆွေဆင်းရဲ၊ မျိုးဆင်းရဲ၊ သူဆင်းရဲ၊ စရိတ်ပြတ်ခရီးသည်စသည်တို့အား ပေးကမ်းလှူဒါန်း ကြရပေမည်။ ဤသို့ အချင်းချင်း ထောက်ထား၊စာနာ၊ သနား၊ကြင်နာကာ ကူညီထောက်ပံ့သော သူမွန်သူမြတ်တို့သည် ၂-ဘဝလုံးတွင် အောင်မြင်ကြမည်သာတည်း။

ဤအာယတ်တော်ကို ထောက်ရှုခြင်းအားဖြင့် ချမ်းသာကြွယ်ဝသူများ၏ ဥစ္စာပစ္စည်းများတွင် ဆင်းရဲနွမ်းပါးသူများ ရသင့်ရထိုက်သော အခွင့်အရေးများ သတ်မှတ်ပြီးဖြစ်ကြောင်း၊ ချမ်းသာကြွယ်ဝသူများက ဆင်းရဲနွမ်းပါးသူတို့အား ပေးခြင်းမှာ ကျေးဇူးပြုခြင်းမဟုတ်၊ တာဝန်ချခြင်းသာဖြစ်ကြောင်း ကောင်းစွာ သိရှိနိုင်ပေသည်။ ဤသည့်သဘောကို 'ဟတ်က္ကဟူ' ဟူသောပုဒ်က အထူးထောက်ပြလျက်ရှိသည်။(ကြည့်-မာရိဒ်)။

**၂ အတိုးအညွှန့် စားသုံးခြင်းဖြင့် ပစ္စည်းဥစ္စာမတိုးပွား၊ ဇကာတ်ပေးခြင်းဖြင့်သာ ပစ္စည်းဥစ္စာ တိုးပွားသည်။**

အတိုးအညွှန့်စားသုံးခြင်းဖြင့် ပစ္စည်းဥစ္စာသည် အမြင်အားဖြင့် တိုးပွားသည်ဟူ၍ ထင်ရပေသည်။ အမှန်မှာ အတိုးအညွှန့်စားသုံးခြင်းဖြင့် ဥစ္စာပစ္စည်း မတိုးပွားသည်သာမက ဆုတ်ယုတ်ပေသည်။ အတိုးအညွှန့်စားသုံးခြင်းဖြင့် ဥစ္စာပစ္စည်းတိုးပွားခြင်းမှာ အတွင်းဓာတ်ပျက်၍ ကိုယ်ခန္ဓာဖောရောင်နေသော လူမမာ၏ ဖောင်းပွခြင်းမျိုးပင်။ ကိုယ်ခန္ဓာဖောရောင်နေသော လူမမာသည် အမြင်အားဖြင့်ဝနေသည်ဟု ထင်ရသော်လည်း ၎င်း၏ဝခြင်းမှာ ရိုးရိုးဝခြင်းမဟုတ်၊ ဖောရောင်နေခြင်း မျှသာဖြစ်ပေသည်။ ဖောရောင်ခြင်းသည် သေမင်းကို လက်ယပ်ခေါ်နေခြင်း မျှသာဖြစ်သည်။

ဇကာတ်ပေးခြင်းအားဖြင့် ဥစ္စာပစ္စည်းသည် အမြင်အားဖြင့် ယုတ်လျော့သွားသည်ဟူ၍ ထင်ရသည်။ အမှန်မှာ ဇကာတ်ပေးခြင်းအားဖြင့် ဥစ္စာပစ္စည်း မယုတ်လျော့သည်သာမက တိုးပွား၍ပင်လာပေသည်။ ဇကာတ်ပေးခြင်းဖြင့် ဥစ္စာပစ္စည်းယုတ်လျော့ခြင်းမှာ ဝမ်းနှုတ်ဆေးစားသည့်အတွက် အနည်းငယ် ကိုယ်ခန္ဓာ စစ်သွားခြင်းမျိုးပင်။ ယင်းသို့ ကိုယ်ခန္ဓာစစ်သွားခြင်းမှာ ကျန်းမာခြင်း၊ ပိုမိုသန့်စွမ်းလာမည်ဖြစ်ခြင်း၏ လက္ခဏာပင်။

ကြည့်–ကုရ်အာန် (၂း၂၇၅–၂၇၆)။

ဇကာတ်၏ အကျိုးကို နောင်တမလွန်ဘဝတွင် ခံစားရမည်ကားအမှန်ပင်။ ထိုမှတစ်ပါး ဤပစ္စုပ္ပန် ဘဝတွင် ဇကာတ်၏ များစွာသော အကျိုးများကို ခံစားရသည်မှာလည်း မျက်ဝါးထင်ထင်ပင်။

ဥပမာ– ဇကာတ်ပေးခြင်းအားဖြင့် ဇကာတ်ပေးသောပုဂ္ဂိုလ်၏ စိတ်နှလုံးသည် အလွန် သန့်ရှင်းသွားသည်။ ကြည်နူးသည်။ ပီတိဖြစ်သည်။ ဆထက်ထမ်းပိုး တိုး၍တိုး၍ ဇကာတ်ပေးနိုင်ရန် ကြိုးစားသည်။ စိတ်ဓါတ်အင်အား တက်ကြွလာသည်။ ဇကာတ်ပေးသူအား ဆင်းရဲသားများသည်လည်း ကျေနပ်နှစ်သက်ကြသည်။ မေတ္တာပို့ကြသည်။ထိုသူ့အတွက် ဆုမွန်ကောင်းတောင်းကြသည်။ ထိုသို့သောသူအား သူငါအများကလည်း ကြည်ညိုလေးစားကြသည်။ အလ္လာဟ်အရှင်မြတ်သည်လည်း ထိုသို့သောပုဂ္ဂိုလ်၏ ဥစ္စာပစ္စည်းကို တိုးပွားစေတော်မူသည်။

တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)၏ ဩဝါဒတော်တွင် လာရှိသည်မှာ–

> အလ္လာဟ်အရှင်မြတ်က "အို– အာဒမ်၏သား၊ အသင်သည် (ငါအရှင်မြတ်၏ ဆင်းရဲနွမ်းပါးသော ကျွန်များအား ပေးလှူရာတွင်လည်းကောင်း၊ အခြားကောင်းမြတ်သော ကုသိုလ်ရေးကိစ္စများတွင်လည်းကောင်း) ငါအရှင်မြတ် ပေးသနားထားတော်မူသော ဥစ္စာပစ္စည်းများကို သုံးစွဲနေပါက ငါအရှင်မြတ်သည် အသင့်အား အမြဲတစေပေးသနား၍ နေတော်မူမည်သာဖြစ်သည်"
>
> ဟု မိန့်ကြားထားတော်မူသည်။

အချို့ပညာရှင်များက ဤအာယတ်တော်တွင်ပါရှိသော "ရိဗာ" ဟူသောပုဒ်သည် အတိုးအညွှန့်၏ အနက်၌မဟုတ်၊ သူတစ်ပါးက မိမိအား ကျေးဇူးတုံ့ပြန်သည့်အနေဖြင့် ပိုမို၍လက်ဆောင်ပေးစေလိုသည့် ရည်ရွယ်ချက်ဖြင့် မိမိကသူတစ်ပါးအား စတင်လက်ဆောင်ပေးခြင်း အနက်၌ဖြစ်သည်ဟု ဖွင့်ဆိုကြသည်။ ထိုသို့ စေတနာမဖြူစင်သော လက်ဆောင်များသည် အလ္လာဟ်အရှင်မြတ်ထံတော်၌ တိုးပွားသည်မရှိပေ။ ယခုခေတ် အချို့သော မင်္ဂလာအခမ်းအနားများ၌ ပေးကြသောလက်ဆောင်များတွင် ဤသို့သောလက်ဆောင်များ မပါဟု အသူဆိုနိုင်အံ့နည်း။

اَللّٰهُ الَّذِيْ خَلَقَكُمْ ثُمَّ رَزَقَكُمْ ثُمَّ يُمِيْتُكُمْ ثُمَّ يُحْيِيْكُمْ ۗ هَلْ مِنْ شُرَكَآئِكُمْ مَّنْ يَّفْعَلُ مِنْ ذٰلِكُمْ مِّنْ شَيْءٍ ۗ سُبْحٰنَهٗ وَتَعٰلٰى عَمَّا يُشْرِكُوْنَ ﴿٤٠﴾

၄၀။ အလ္လာဟ်အရှင်မြတ်သည်ပင်လျှင် အသင်တို့အား ဖန်ဆင်းတော်မူခဲ့သောအရှင်မြတ် ဖြစ်တော်မူ၏။ ထို့နောက် ထိုအရှင်မြတ်သည်ပင် အသင်တို့အား စားနပ်ရိက္ခာ ပေးသနားတော်မူခဲ့၏။ ထို့နောက် ထိုအရှင်မြတ်သည်ပင် အသင်တို့အား သေစေတော်မူ၏။ ထို့နောက် ထိုအရှင်မြတ်သည်ပင် အသင်တို့အား ရှင်စေတော်မူမည်။ (အသင်တို့ ထိုအရှင်မြတ်နှင့် နှိုင်းယှဉ်တွဲဖက် ကိုးကွယ်လျက် ရှိကြကုန်သော) အသင်တို့၏ တွဲဖက်များတွင် ဤသည်တို့အနက် မည်သည့် တစ်စုံတစ်ရာကိုမဆို ပြုစွမ်းနိုင်သောသူဟူ၍ တစ်ဦးတစ်ယောက်မျှပင် ရှိလေသလော။ ထိုအရှင်မြတ်သည် ၎င်းတို့ တွဲဖက်နှိုင်းယှဉ် ကိုးကွယ်ကြသည်များမှ စင်ကြယ်သန့်ရှင်း မြင့်မြတ်လှတော်မူပေသည်တကား။

ظَهَرَ الْفَسَادُ فِي الْبَرِّ وَالْبَحْرِ بِمَا كَسَبَتْ اَيْدِي النَّاسِ لِيُذِيْقَهُمْ بَعْضَ الَّذِيْ عَمِلُوْا لَعَلَّهُمْ يَرْجِعُوْنَ ﴿٤١﴾

၄၁။ လူတို့၏လက်များက ဆည်းပူးခဲ့ကြသော (မကောင်းမှုဒုစရိုက်တို့)ကြောင့် ကုန်းမြေ၌လည်းကောင်း၊ သမုဒ္ဒရာပင်လယ်၌လည်းကောင်း၊ ပျက်စီးမှု (ဘေးဥပဒ်များ)သည် ဖြစ်ပေါ်၍နေချေပြီ။ နောက်ဆုံးတွင် ထိုအရှင်မြတ်သည် ၎င်းတို့ကျင့်မူခဲ့ကြသော ပြစ်မှုအချို့၏ရသာကို ၎င်းတို့အား မြည်းစမ်းစေတော်မူမည် ဖြစ်ပေသည်။ သို့မှသာလျှင် ၎င်းတို့သည် (မိမိတို့၏ ပြစ်မှုများမှ) ပြန်လှည့်ကြပေမည်။ [၁]

---

(၁) လူသားတို့သည် အစ္စလာမ်၏မှန်ကန်သော သဘာဝမေ့လမ်းစဉ်ကို ကျောခိုင်း၍ ကုဖ်ရ်၊ ရှရစ်က် အမှုများတွင် နစ်မွန်းပြီး အမျိုးမျိုး ဆိုးသွမ်းမိုက်မဲလာကြသည့်အခါ ကမ္ဘာ့မြေပြင်တွင်လည်းကောင်း၊ ကမ္ဘာ့ရေပြင်တွင်လည်းကောင်း၊ ကမ္ဘာ့အဝန်းတွင်လည်းကောင်း ကပ်အမျိုးမျိုး၊ ပျက်စီးခြင်းအဖုံဖုံ ဆိုက်ရောက်လာပေမည်။ အေးချမ်းသာယာမှုသည် အပျောက်ကြီး ပျောက်သွားပေသည်။ ဤကား မည်သူမပြုမိမိမှုပင်။

အလ္လာဟ်အရှင်မြတ်သည် လူသားတို့အား ၎င်းတို့၏ အချို့ဆိုးသွမ်းမှုများ၏ ပြစ်ဒဏ်ကို ဤပစ္စက္ခဘဝတွင်ပင် အနည်းငယ် မြည်းစမ်းစေတော်မူသည်၊ ဤပစ္စက္ခတွင်ပင် လက်ငင်းခံစားကြပြီး သတိသံဝေဂ နောင်တရနိုင်ကြပေသည်။

قُلْ سِيْرُوْا فِي الْاَرْضِ فَانْظُرُوْا كَيْفَ كَانَ عَاقِبَةُ الَّذِيْنَ مِنْ قَبْلُ ۭ كَانَ اَكْثَرُهُمْ مُّشْرِكِيْنَ ۝٤٢

၄၂။ (အို-နဗီတမန်တော်) အသင်သည် (၎င်းတို့အား) ပြောကြားပါလေ။ (အချင်းတို့၊) အသင်တို့သည် ကမ္ဘာမြေဝယ် လှည့်လည် သွားလာကြပြီးလျှင် ယခင်က ရှိခဲ့ဖူးကြသောသူတို့၏ နောက်ဆုံးအကျိုးသည် မည်သို့မည်ပုံရှိခဲ့သည်ကို ကြည့်ရှု(လေ့လာ)ကြလေကုန်၊ ၎င်းတို့အနက် အများစုမှာမူကား "မုရှ်ရစ်က်" အခြားအရာများကို အလ္လာဟ်အရှင်မြတ်နှင့် တွဲဖက်နိုင်းယှဉ် ကိုးကွယ်ကြသူများပင် ဖြစ်ခဲ့ကြကုန်သတည်း။

فَاَقِمْ وَجْهَكَ لِلدِّيْنِ الْقَيِّمِ مِنْ قَبْلِ اَنْ يَّاْتِيَ يَوْمٌ لَّا مَرَدَّ لَهٗ مِنَ اللّٰهِ يَوْمَئِذٍ يَّصَّدَّعُوْنَ ۝٤٣

၄၃။ သို့ဖြစ်ပေရာ အသင်သည် မိမိ၏မျက်နှာကို (ဤသို့) *ဖြောင့်မတ်သော 'ဒီန်' သာသနာပေါ် မြဲမြံတည်တံ့စွာ ထားရှိလော့၊* [၁] အလ္လာဟ်အရှင်မြတ်အထံတော်မှ ရွှေ့ပြောင်းမှု အလျှင်းရှိမည် မဟုတ်သောနေ့ ဆိုက်ရောက်မလာမီ ထိုနေ့တွင် လူတို့သည် တကွဲစီရှိကြပေမည်။

مَنْ كَفَرَ فَعَلَيْهِ كُفْرُهٗ ۚ وَمَنْ عَمِلَ صَالِحًا فَلِاَنْفُسِهِمْ يَمْهَدُوْنَ ۝٤٤

၄၄။ မည်သူမဆို သွေဖည်ငြင်းပယ်ခဲ့မူ ၎င်း၏ သွေဖည်မှုသည် ၎င်း၏အပေါ်၌သာ ကျရောက်ပေမည်။ ထိုနည်းတူစွာ မည်သူမဆို ကောင်းမြတ်သော အကျင့်သီလကိုဆောက်တည်ခဲ့မူ ၎င်းတို့သည် မိမိတို့အကျိုးငှာ စီမံဆောင်ရွက်နေကြခြင်းသာဖြစ်သည်။

---

(၁) လူသားတို့၏ အကျင့်ပျက်မှုများကြောင့် ကမ္ဘာတွင် ပျက်စီးမှုအမျိုးမျိုး၊ ကပ်အဖုံဖုံ ဆိုက်ရောက်သည့်အခါ ယင်းသည့်ဘေးအန္တရာယ် အပေါင်းမှ လွတ်မြောက်ရန် တစ်ခုတည်းသော ဆေးနည်းကောင်းမှာ ဖြောင့်မတ်မှန်ကန်သော အစ္စလာမ်လမ်းစဉ်အပေါ်၌ တိကျမှန်ကန်စွာ ရပ်တည်နေခြင်းပင် ဖြစ်ပေသည်။

لِيَجْزِيَ الَّذِينَ آمَنُوا
وَعَمِلُوا الصَّالِحَاتِ مِن فَضْلِهِ ۚ
إِنَّهُ لَا يُحِبُّ الْكَافِرِينَ ﴿٤٥﴾

၄၅။ သို့မှသာလျှင် ထိုအရှင်မြတ်သည် 'အီမာန်' သက်ဝင်ယုံကြည်၍ ကောင်းမြတ်သော အကျင့်သီလများကို ကျင့်မှုတည်ဆောက် ခဲ့ကြကုန်သောသူများအား မိမိကျေးဇူးတော်ဖြင့် (ကောင်းမြတ်သော) အစားကို ပေးတော်မူအံ့။ ဧကန်စင်စစ် ထိုအရှင်မြတ်သည် သွေဖည်ငြင်းပယ်သောသူတို့အား နှစ်သက်တော်မူသည် မဟုတ်ပေတကား။

وَمِنْ آيَاتِهِ أَن يُرْسِلَ الرِّيَاحَ
مُبَشِّرَاتٍ وَلِيُذِيقَكُم مِّن
رَّحْمَتِهِ وَلِتَجْرِيَ الْفُلْكُ بِأَمْرِهِ
وَلِتَبْتَغُوا مِن فَضْلِهِ وَلَعَلَّكُمْ
تَشْكُرُونَ ﴿٤٦﴾

၄၆။ စင်စစ် ထိုအရှင်မြတ်၏ သက်သေလက္ခဏာများအနက်မှ ထိုအရှင်မြတ်သည် ရှေ့ပြေးသတင်းကောင်းအဖြစ်လည်းကောင်း၊ ထိုအရှင်မြတ်၏ ကရုဏာတော်၏ရသာကို အသင်တို့အား မြည်းစမ်းစေတော်မူအံ့သောငှာလည်းကောင်း၊ ထိုအရှင်မြတ်၏ အမိန့်တော်နှင့် ရွက်သင်္ဘောများသည် (ပင်လယ်သမုဒ္ဒရာ)၌ သွားလာနိုင်ကြအံ့သောငှာလည်းကောင်း၊ အသင်တို့သည် ထိုအရှင်မြတ်၏ ကျေးဇူးတော်တည်းဟူသော စားနပ်ရိက္ခာကို ရှာဖွေနိုင်ကြအံ့သောငှာလည်းကောင်း၊ အသင်တို့သည် ကျေးဇူးတော်ကို သိတတ်ကြအံ့သောငှာလည်းကောင်း (မိုးမရွာမီ) လေများကို စေလွှတ်တော်မူခြင်းပင် ဖြစ်ပေသည်။

وَلَقَدْ أَرْسَلْنَا مِن قَبْلِكَ
رُسُلًا إِلَىٰ قَوْمِهِمْ
فَجَاءُوهُم بِالْبَيِّنَاتِ
فَانتَقَمْنَا مِنَ الَّذِينَ
أَجْرَمُوا ۖ وَكَانَ

၄၇။ ထို့ပြင် မချွတ်မလွဲ ငါအရှင်မြတ်သည် အသင့်အလျင် ရစူလ်တမန်တော်များအား ၎င်းတို့၏အမျိုးသားတို့ထံ စေလွှတ်တော်မူခဲ့ရာ ထိုရစူလ်တမန်တော်များသည် ၎င်းတို့ထံ ထင်ရှားစွာသော သက်သေသာဓကများနှင့်တကွ ရောက်ရှိလာခဲ့ကြကုန်၏။ ထို့နောက် ငါအရှင်မြတ်သည် ပြစ်မှုကျူးလွန်ကြကုန်သော သူတို့အား လက်စားချေတော်မူခဲ့၏။

حَقًّا عَلَيْنَا نَصْرُ الْمُؤْمِنِيْنَ ﴿٤٧﴾

စင်စစ် 'မုအ်မင်န်' သက်ဝင်ယုံကြည်သူတို့အား ကူညီစောင်မတော်မူခြင်းသည် *ငါအရှင်မြတ်၏ တာဝန်ပင် ဖြစ်ပေသတည်း။* [၁]

اَللّٰهُ الَّذِيْ يُرْسِلُ الرِّيٰحَ فَتُثِيْرُ سَحَابًا فَيَبْسُطُهٗ فِي السَّمَآءِ كَيْفَ يَشَآءُ وَيَجْعَلُهٗ كِسَفًا فَتَرَى الْوَدْقَ يَخْرُجُ مِنْ خِلٰلِهٖ ۚ فَاِذَآ اَصَابَ بِهٖ مَنْ يَّشَآءُ مِنْ عِبَادِهٖٓ اِذَا هُمْ يَسْتَبْشِرُوْنَ ﴿٤٨﴾

၄၈။ အလ္လာဟ်သည် အကြင်အရှင်မြတ်ပင်၊ ထိုအရှင်မြတ်သည် လေများကို စေလွှတ်တော်မူ၏။ ထိုအခါ ထိုလေများသည် မိုးတိမ်များကို သယ်ဆောင်၍ သွားကြ၏။ ထို့နောက် ထိုအရှင်မြတ်သည် (တခါတရံ) ယင်းမိုးတိမ်များကို မိမိ အလိုရှိတော်မူသည့်အတိုင်း မိုးကောင်းကင်၌ ဖြန့်တော်မူ၏။ (တခါတရံ) ထိုအရှင်မြတ်သည် ယင်းမိုးတိမ်များကို အစိတ်စိတ်အပိုင်းပိုင်း ပြုလုပ်တော်မူ၏။ ထို့နောက် အသင်သည် ယင်းမိုးတိမ်များ၏အကြားမှ မိုးရေ (ကျလာသည်)ကို တွေ့မြင်လေ၏။

ထို့နောက် ထိုအရှင်မြတ်သည် ယင်းမိုးရေကို မိမိကျွန်များအနက် မိမိအလိုရှိတော်မူသောသူ၏ထံသို့ သက်ရောက်စေတော်မူသောအခါ ၎င်းတို့သည် ရုတ်ဟရက် ချက်ချင်းပင် ဝမ်းမြောက်ပျော်ရွှင်ကြကုန်၏။

وَاِنْ كَانُوْا مِنْ قَبْلِ اَنْ يُّنَزَّلَ عَلَيْهِمْ مِّنْ قَبْلِهٖ لَمُبْلِسِيْنَ ﴿٤٩﴾

၄၉။ အမှန်စင်စစ်သော်ကား ၎င်းတို့သည် ယင်းသို့ ဝမ်းမြောက်မီ ထိုမိုးမရွာမီက အမှန်ပင် မျှော်လင့်ချက် ကင်းမဲ့လျက် ရှိခဲ့ကြကုန်၏။

---

(၁) အထက်တွင် ကိယာမတ်နေ့၌ မုအ်မင်န်သူတော်စင်များနှင့် ကာဖိရ်လူယုတ်မာတို့သည် အသီးသီးတခြားစီ ဖြစ်သွားကြရမည့်အကြောင်း၊ အမိန့်တော်ကို သွေဖည်သောသူများသည် အမိန့်တော် သွေဖည်မှု၏ဒဏ် ခံကြရမည့်အကြောင်းပါရှိ၏။ ယခုဤအာယတ်တော်တွင် ယင်းသည့် ဖြစ်ရပ်များသည် ဤပစ္စက္ခတွင်လည်း နည်းများမဆို ပေါ်လွင်လာမည်ဖြစ်ကြောင်း မိန့်ဆိုထားတော်မူသည်။ အဘယ်ကြောင့်ဆိုသော် အလ္လာဟ် အရှင်မြတ်သည် အပြစ်ရှိသူတို့အား ထိုက်သည့်အားလျော်စွာ အပြစ်ပေးတော်မူရန်နှင့် မုအ်မင်န်သူတော်စင်တို့အား ကာကွယ်စောင့်ရှောက် ကူညီတော်မူရန် တာဝန်ယူထားတော်မူသည်။ အလ္လာဟ်အရှင်မြတ်၏ 'စွန္နတ်' တော်မှာလည်း ဤအတိုင်းပင်ဖြစ်သည်။

فَانْظُرْ إِلَىٰ آثَارِ رَحْمَتِ اللَّهِ كَيْفَ يُحْيِي الْأَرْضَ بَعْدَ مَوْتِهَا ۚ إِنَّ ذَٰلِكَ لَمُحْيِي الْمَوْتَىٰ ۖ وَهُوَ عَلَىٰ كُلِّ شَيْءٍ قَدِيرٌ ﴿٥٠﴾

၅၀။ သို့ဖြစ်ပေရာ အသင်သည် အလ္လာဟ်အရှင်မြတ်၏ကရုဏာတော်(တည်းဟူသော မိုးရွာသွန်းခြင်း)၏ အမှတ်လက္ခဏာများကို ကြည့်လေ။ ထိုအရှင်မြတ်သည် ပထဝီမြေကို ယင်းပထဝီမြေ (သွေ့ခြောက်) သေပြီးနောက် မည်သို့ ရှင်စေတော်မူခဲ့ပါသနည်း။ ဧကန်မလွဲ ထိုအရှင်မြတ်သည်ပင် သူသေတို့အား ရှင်စေတော်မူမည့် အရှင်ဖြစ်တော်မူ၏။ ထိုမှတပါး ထိုအရှင်မြတ်သည် အရာခပ်သိမ်းတို့ကို စွမ်းဆောင်နိုင်တော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူပေသည်။

وَلَئِنْ أَرْسَلْنَا رِيحًا فَرَأَوْهُ مُصْفَرًّا لَظَلُّوا مِنْ بَعْدِهِ يَكْفُرُونَ ﴿٥١﴾

၅၁။ သို့ရာတွင် အမှန်ပင် အကယ်၍ ငါအရှင်မြတ်သည် (အခြားသော)လေတမျိုးကို စေလွှတ်တော်မူ၍ ၎င်းတို့သည် ထိုလယ်ယာကို ဝါ၍နေသည်ကို တွေ့မြင်ခဲ့ကြလျှင် ၎င်းတို့သည် ထို(သို့ဝါသွားသည့်) နောက်တွင် အမှန်ပင် ကျေးဇူးကန်းကြကုန်အံ့သတည်း။ [၁]

فَإِنَّكَ لَا تُسْمِعُ الْمَوْتَىٰ وَلَا تُسْمِعُ الصُّمَّ الدُّعَاءَ إِذَا وَلَّوْا مُدْبِرِينَ ﴿٥٢﴾

၅၂။ သို့ဖြစ်ပေရာ (အို-နဗီတမန်တော်) ဧကန်အမှန် အသင်သည် သူသေတို့အား ကြားစေနိုင်သည် မဟုတ်ပေ။ ထို့နည်းတူစွာ အသင်သည် နားပင်းသူတို့အားလည်း ၎င်းတို့ ကျောခိုင်းလှည့် ပြန်သွားကြသောအခါ ဟစ်ခေါ်သံကို ကြားစေနိုင်သည် မဟုတ်ပေ။

---

(၁) လူသားသည် ပထမသော် မျှော်လင့်ချက်ကင်းကာ စိတ်အပျက်ကြီးပျက်၍ နေခဲ့၏။ ထို့နောက် အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်ဖြင့် မိုးကျလာခဲ့၏။ မြေသေသည် ရှင်လာခဲ့၏။ စိုပြည်သာယာလာခဲ့၏။ ထိုအခါ လူသားသည် အပျော်ကြီးပျော်နိုင်ခဲ့၏။ ထိုသည့်နောက်ပိုင်းတွင် လေပူလေကြမ်း တိုက်ခတ်သဖြင့် စိုပြည်နေသော လယ်ယာများ ခြောက်သွေ့ပြီး၊ ဝါကြန့်ကြန့် ဝါဖန့်ဖန့်ဖြစ်နေသည်ကို တွေ့မြင်ရပြန်သော်၊ လူသားသည် စိတ်ပြောင်းကာ အလ္လာဟ်အရှင်မြတ်၏ ယခင်ကျေးဇူးတော်အားလုံးကို အမေ့ကြီးမေ့၍ ကျေးဇူးကန်းသွားလေသည်။ လူ၏စိတ်ကား အပြောင်းအလဲမြန်ဘိသည်။ ယခုကျေးဇူးတင် ယခုကျေးဇူးကန်း။ အမှန်မှာ လူသား၏ကျေးဇူးတင်မှု၊ ကျေးဇူးကန်းမှုများသည် ကိုယ်ကျိုးနှင့် ဆက်စပ်နေသည်။ ကိုယ်ကျိုးရှိက ကျေးဇူးတင်သည်။ ကိုယ်ကျိုးမရှိက ကျေးဇူးကန်းသည်။

ဤအာယတ်တော်များကို ထောက်ခြင့်၍ လူသားတို့သိထားအပ်သည်မှာ အလ္လာဟ်အရှင်မြတ်၏ ➤➤

وَمَآ أَنتَ بِهَٰدِ ٱلْعُمْىِ عَن
ضَلَٰلَتِهِمْ ۖ إِن تُسْمِعُ إِلَّا مَن
يُؤْمِنُ بِـَٔايَٰتِنَا فَهُم
مُّسْلِمُونَ ﴿٥٣﴾

၅၃။ ထိုမှတပါး အသင်သည် မျက်စိကန်းသူတို့အားလည်း ၎င်းတို့၏လမ်းလွဲခြင်းမှ (ကယ်တင်ခြင်းငှာ) တရားလမ်းကို ပြသနိုင်မည်မဟုတ်ပေ။ အသင်သည် ငါအရှင်မြတ်၏ အာယတ်တော်များကို ယုံကြည်၍ (အမိန့်တော်များကို) နာခံသော သူတို့အားသာလျှင် ကြားစေနိုင်ပေသတည်း။ [၁]

ٱللَّهُ ٱلَّذِى خَلَقَكُم مِّن
ضَعْفٍ ثُمَّ جَعَلَ مِنۢ بَعْدِ
ضَعْفٍ قُوَّةً ثُمَّ جَعَلَ مِنۢ
بَعْدِ قُوَّةٍ ضَعْفًا وَشَيْبَةً ۚ
يَخْلُقُ مَا يَشَآءُ ۖ وَهُوَ
ٱلْعَلِيمُ ٱلْقَدِيرُ ﴿٥٤﴾

၅၄။ အလ္လာဟ်အရှင်မြတ်သည် အကြင်အရှင်မြတ်ပင်ဖြစ်တော်မူ၏။ ထိုအရှင်မြတ်သည် အသင်တို့အားအားနည်းရာမှ ဖန်ဆင်းတော်မူ၏။ ထို့နောက် ထိုအရှင်မြတ်သည် (ယင်း)အားနည်းမှု၏ နောက်တွင် ခွန်အားကို ပြုလုပ်၍ ပေးတော်မူ၏။ ထို့နောက်တဖန် ထိုအရှင်မြတ်သည် (ထို)ခွန်အား၏ နောက်တွင် အားနည်းမှုကိုလည်းကောင်း၊ အသက်အရွယ် အိုမင်းရင့်ရော်မှုကိုလည်းကောင်း၊ ပြုလုပ်တော်မူ၏။ [၂]

ထိုအရှင်မြတ်သည် မိမိ အလိုရှိတော်မူသောအရာကို ဖန်ဆင်းတော်မူ၏။ အမှန်သော်ကား ထိုအရှင်မြတ်သည် (အရာခပ်သိမ်းတို့ ကို) အလွန်တရာသိတော်မူသော (အရာခပ်သိမ်းတို့ကို) စွမ်းဆောင်နိုင်တော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

---

➤➤ တန်ခိုးတော်များကား ဆန်းကြယ်ဘိ၏။ ထိုအရှင်မြတ်သည် မိမိချီးမြှင့်ထားတော်မူသော ကျေးဇူးတော်များကို ရုပ်သိမ်းတော်မူလိုပါက အခါခပ်သိမ်း ပြန်လည်ရုပ်သိမ်းတော်မူနိုင်သည်။ သို့ဖြစ်ရာ လူသားသည် မိမိရရှိထားသော သုခချမ်းသာကို ထာဝရတည်ရှိမည်ဟု ထင်မှတ်ကာ စိတ်ချလက်ချမနေရာ၊ အတင့်မရဲရာ။

(၁) ဆိုလိုသည်ကား အလ္လာဟ်အရှင်မြတ်သည် အနန္တတန်ခိုးတော်ရှင် ဖြစ်တော်မူသည်။ အရာခပ်သိမ်းကို ပြုစွမ်းတော်မူနိုင်သည်။ တမန်တော်မြတ်၌ ဤသည့်စွမ်းရည်သတ္တိများမရှိ။ တမန်တော်မြတ် (ဆွလ္လလ္လာဟုအလိုင်ဟိဝစလ္လမ်)သည် အထူးသဖြင့် ကျော်ခိုင်းနေသော၊ အမှန်တရားကို မကြားလိုသောသူသေများ၊ နားပင်းများအား ကြားစေနိုင်သည်မဟုတ်၊ အမှန်တရားကို မမြင်လိုသော မျက်ကန်းများအား လမ်းပြနိုင်သည်လည်းမဟုတ်။ တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် ထိုသို့သော သူယုတ်မာများ၏ သွေဖည်ငြင်းဆန်မှု ကျေးဇူးကန်းမှုများကြောင့် စိတ်ပျက်နေတော်မူရန် မလိုပေ။ အဘယ်ကြောင့်ဆိုသော် ➤➤

وَيَوْمَ تَقُومُ السَّاعَةُ يُقْسِمُ الْمُجْرِمُونَ مَا لَبِثُوا غَيْرَ سَاعَةٍ كَذَٰلِكَ كَانُوا يُؤْفَكُونَ ﴿٥٥﴾

၅၅။ ၎င်းပြင် "ကိယာမတ်" ရှင်ပြန်ထမည့်နေ့၏ အချိန်အခါ ဆိုက်ရောက်လာသောနေ့တွင် ပြစ်မှုကျူးလွန်ခဲ့ကြကုန်သော သူတို့သည် မိမိတို့မှာ တနာရီထက် ပို၍ နေခဲ့ကြသည် မဟုတ်ဟု (ကျိန်တွယ်၍ ပြောဆို) ကြပေမည်။ ၎င်းတို့သည် ဤနည်းအတိုင်းပင် (လောကီဘဝ၌)လှည့်စားလျက် ရှိခဲ့ကြကုန်၏။ [၁]

---

➤➤ တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)၏ အဓိကတာဝန်မှာ တရားဓမ္မ ဟောညွှန်ပြရန်သာ ဖြစ်သည်။ နာခံခြင်း၊မနာခံခြင်းမှာ ၎င်းတို့၏အရေးသာဖြစ်သည်။ အမှန်မှာ အလ္လာဟ်အရှင်မြတ်၏ ဒေသနာတော်များကို ယုံကြည်၍ အမိန့်တော်ကို နာခံလိုစိတ်ရှိသော မုစ်လင်မ်များသည်သာလျှင် တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)၏ တရားဓမ္မကို ကြည်ဖြူစွာ နာခံကြပေမည်။

ဤအာယတ်တော်နှင့် အနက်သဘောတူ အာယတ်တော်များ ယခင်ကပါရှိခဲ့ချေပြီ။

ကြည့်-ကုရ်အာန် (၂၇း၈၀-၈၁)။

(၂) ကလေးသူငယ်သည် မွေးဖွားခါစအချိန်တွင် အားအင်မရှိ၊ တစ်စုံတစ်ရာမပြုစွမ်းနိုင်။ ထို့နောက်တဖြည်းဖြည်း အားအင်များ၍များ၍လာပြီး၊ လူလားမြောက်သည့်အခါ အားအင်များသည် အဖက်ဖက်မှပြည့်ဝလာသည်။ သို့ပို့ရွယ်သန်စွမ်းပြီး နောက်တစ်ဖန် အားအင်များသည် တဖြည်းဖြည်း ဆုတ်ယုတ်ပြန်သည်။ အိုမင်းရင့်ရော်လာသည်။ နောက်ဆုံးတွင် အိုမင်းသောအရွယ်သို့ရောက်ပြီး တစုံတရာ မပြုစွမ်းနိုင်သောဘဝသို့ ပြန်လည်ရောက်ရှိသွားပေသည်။ ဤသို့ လူ့ဘဝသက်တမ်းတွင်ပင် အားအင်မရှိရာမှ အားအင်ရှိလာခြင်း၊ အားအင်ရှိရာမှ အားအင်ဆုတ်ယုတ်ခြင်းစသည့် တိုးတက်ခြင်း၊ ဆုတ်ယုတ်ခြင်းများသည် အလ္လာဟ်အရှင်မြတ်၏ လက်တော်တွင်း၌သာ ရှိပေသည်။ ထိုအရှင်မြတ်သည် အရာတစ်ခုကို မိမိအလိုတော်အတိုင်း ပြုလုပ်တော်မူ၍ အားအင်တိုးတက်မှု၊ အားအင်ဆုတ်ယုတ်မှု၏ အမျိုးမျိုးသောဘဝများတွင် လည်ပတ်စေတော်မူသည်။ ထိုအရှင်မြတ်သည် မည်သည့်အရာကို မည်သည့်အချိန်ထိ မည်သည့်အခြေအနေများတွင် ထားသင့်ထားအပ်သည်ကို ကောင်းစွာ သိတော်မူသည်။ သို့ဖြစ်ပေရာ လူသားတို့သည် ထိုသို့သော အရှင်မြတ်အားသာလျှင် ဆည်းကပ်ကိုးကွယ်ကြရာသည်။ ထိုအရှင်မြတ် စေလွှတ်တော်မူလိုက်သော တမန်တော်များ၏ ဩဝါဒတော်များကိုသာ နာခံကြရာသည်။

(၁) ကိယာမတ် ဖြစ်ပေါ်လာသည့်နေ့တွင် ကာဖိရ်များသည် အကြောက်ကြီးကြောက်၊ အလန့်ကြီးလန့်ပြီး "ကျွန်ုပ်တို့သည် လူ့လောကတွင် သို့မဟုတ် သင်္ချိုင်းများတွင် သို့မဟုတ် "ဗရ်ဇခ်" ကြားကာလတွင် တစ်နာရီထက်ပို၍ မနေခဲ့ကြရပါဟု ကျိန်တွယ်ပြောဆိုကြပေမည်။ "ကိယာမတ်သည် အချိန်မကျရောက်မီစော၍ ဖြစ်ပေါ်လာသည်။ ၎င်းတို့အဖို့ အနည်းငယ်စိုးစဉ်မျှပင် အားလပ်ခွင့်ဟူ၍ မရှိခဲ့ပါ" ဟု ဆိုလိုကြခြင်းပင်။ ကာဖိရ်များက ယင်းသို့ဆိုခြင်းမှာ အမှားသက်သက်သာ၊ အတွေးအခေါ်အယူအဆ မှားယွင်းခြင်းသာ။ ယင်းကာဖိရ်များအဖို့ အတွေးအခေါ်အယူအဆ မှားယွင်းခြင်းမှာ အထူးအဆန်းမဟုတ်ပေ။ ၎င်းတို့သည် ဤပစ္စက္ခတွင် ရှိနေခဲ့ကြစဉ်ကလည်း အစစအရာရာတွင် အတွေးအခေါ်အမြော်အမြင် အယူအဆ တိမ်းစောင်းမှောက်မှားခဲ့ကြသည်သာဖြစ်သည်။

၅၆။ သို့ရာတွင် အသိပညာကိုသော်လည်းကောင်း၊ "အီမာန်" ယုံကြည်မှုကိုလည်းကောင်း ချီးမြှင့်ပေးသနားတော်မူခြင်း ခံခဲ့ကြရသော သူတို့မှာမူကား "မချွတ်ဧကန် အသင်တို့သည် အလ္လာဟ်အရှင်မြတ်၏ မှတ်တမ်းတော်တွင် ပါရှိသည်နှင့်အညီ ရှင်ပြန်ထမည့်နေ့(အထိ) နေခဲ့ကြပေသည်။ သို့ဖြစ်ပေရာ ဤသည်ပင်လျှင် ရှင်ပြန်ထသည့်နေ့ ဖြစ်ပေသည်။ သို့သော် အသင်တို့သည် *မယုံကြည်ခဲ့ကြပေ*" [၁] ဟု ပြောဆိုကြကုန်အံ့၊

وَقَالَ الَّذِينَ أُوتُوا الْعِلْمَ وَالْإِيمَانَ لَقَدْ لَبِثْتُمْ فِي كِتَابِ اللَّهِ إِلَىٰ يَوْمِ الْبَعْثِ ۖ فَهَٰذَا يَوْمُ الْبَعْثِ وَلَٰكِنَّكُمْ كُنتُمْ لَا تَعْلَمُونَ ﴿٥٦﴾

၅၇။ သို့ဖြစ်ပေရာ ထိုနေ့တွင် မတရား ပြုလုပ်ခဲ့ကြသော သူတို့အား ၎င်းတို့၏ အကြောင်းပြချက်သည် အကျိုးပေးလိမ့်မည်မဟုတ်ပေ။ ထိုမှတပါး ၎င်းတို့သည် အမှားကိုပြုပြင်ရန်လည်း တောင်းဆိုခြင်းကို ခံကြရမည် မဟုတ်ပေတကား။

فَيَوْمَئِذٍ لَّا يَنفَعُ الَّذِينَ ظَلَمُوا مَعْذِرَتُهُمْ وَلَا هُمْ يُسْتَعْتَبُونَ ﴿٥٧﴾

၅၈။ စင်စစ်သော်ကား ဧကန်မလွဲ ငါအရှင်မြတ်သည် လူတို့အကျိုးငှာ ဤကုရ်အာန်ကျမ်းတော်မြတ်တွင် ဥပမာပုံဆောင်ချက်အမျိုးစုံတို့ကို ခိုင်းနှိုင်းထားတော်မူ၏။ သို့ရာတွင် အကယ်၍ အသင်သည် ၎င်းတို့ထံ သက်သေလက္ခဏာ တစုံတရာကို ဆောင်ယူလာပါလျှင် ဧကန်အမှန် သွေဖည်ငြင်းပယ်ကြသောသူတို့က "အသင်တို့သည် လူလိမ်များသာလျှင်ဖြစ်ကြသည်" ဟု ပြောဆိုကြပေမည်။

وَلَقَدْ ضَرَبْنَا لِلنَّاسِ فِي هَٰذَا الْقُرْآنِ مِن كُلِّ مَثَلٍ ۚ وَلَئِن جِئْتَهُم بِآيَةٍ لَّيَقُولَنَّ الَّذِينَ كَفَرُوا إِنْ أَنتُمْ إِلَّا مُبْطِلُونَ ﴿٥٨﴾

---

(၁) ကိယာမတ်နေ့တွင် ကာဖိရ်များက ယင်းသို့ကြောက်လန့်ပြီး အမှားမှားအယွင်းယွင်း ပြောဆိုလာကြသည့်အခါ အသိပညာနှင့် ယုံကြည်ခြင်းသဒ္ဓါတရား ပေးသနားတော်မူခြင်း ခံခဲ့ကြရသော ပုဂ္ဂိုလ်များက ယင်းကာဖိရ်များအား ဤအာယတ်တော်တွင် လာရှိသည့်အတိုင်း ချေပဖြေဆိုကြပေမည်။

ဖော်ပြပါ ချေပဖြေဆိုကြမည့် ပုဂ္ဂိုလ်များကား မည်သူများနည်း။ ဤတွင် အဆိုများ ပြားလျက်ရှိပေသည်။ အချို့အဆိုအရ ယင်းသို့ချေပဖြေဆိုကြမည့် ပုဂ္ဂိုလ်များမှာ ကောင်းကင်တမန်များ အချို့အဆိုအရ နဗီတမန်တော်များဖြစ်ကြမည်။ အချို့အဆိုအရ အာလင်မ် ပညာရှင်များဖြစ်ကြမည်။ အချို့အဆိုအရ မုအ်မင်န်များ ဖြစ်ကြမည်။ ကြည့်-ကုရ်တုဗီ။

كَذٰلِكَ يَطْبَعُ اللّٰهُ عَلٰى قُلُوْبِ الَّذِيْنَ لَا يَعْلَمُوْنَ ﴿٥٩﴾

၅၉။ အလ္လာဟ်အရှင်မြတ်သည် မယုံကြည်သောသူတို့၏ စိတ်နှလုံးများအပေါ်၌ ဤအတိုင်းပင် တံဆိပ်ခတ်နှိပ်တော်မူသည်။

فَاصْبِرْ اِنَّ وَعْدَ اللّٰهِ حَقٌّ وَّلَا يَسْتَخِفَّنَّكَ الَّذِيْنَ لَا يُوْقِنُوْنَ ﴿٦٠﴾

၆၀။ သို့ဖြစ်ပေရာ (အို-နဗီတမန်တော်) အသင်သည် ခန္တီတရားထားရှိပါလေ။ ကေန်မလွဲ အလ္လာဟ်အရှင်မြတ်၏ ကတိတော်သည် မှန်ကန်သော ကတိတော်ပင်ဖြစ်သည်။ ၎င်းပြင် မယုံကြည်သောသူတို့သည် အသင့်အား သည်းမခံနိုင်အောင် မပြုကြစေရ။ [၁]

---

(၁) အလ္လာဟ်အရှင်မြတ်သည် ကုရ်အာန်ကျမ်းမြတ်တွင် လူသားတို့အကျိုးငှာ၊ အဖိုးမဖြတ်နိုင်သော အကြောင်းများကို ဥပမာ၊ဥပမေယျပြ၍တနည်း၊ ကျိုးကြောင်းပြ၍တဖုံ နည်းမျိုးစုံဖြင့် လင်းပြထားတော်မူသည်။ သို့တစေလည်း အချို့လူသားတို့သည် နားမလည်လိုကြပေ။ ၎င်းတို့အား အဘယ်မျှသော အာယတ်တော်များကို ရွတ်ဖတ်ပြလင့်ကစား၊ အဘယ်မျှသော တန်ခိုးပြဌာဒ်ဟာများကို ပြလင့်ကစား အကျိုးရှိမည်ကားမဟုတ်။

အဘယ်ကြောင့် ဆိုသော် ၎င်းတို့သည် ယင်းသည့်အာယတ်တော်များကို ကြားပြီး ယင်းသည့် ပြဌာဒ်ဟာများကို မြင်ပြီးသည့် နောက်ပိုင်းတွင်လည်း တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)နှင့် မုအ်မင်တို့အား "အသင်တို့သည် အချင်းချင်း ပူးပေါင်း၍ နားလည်မှုယူကာ အပေးအယူပြုလုပ်ပြီး လိမ်လည်ဝါဒဖြန့်နေကြသော လူလိမ်များသာ ဖြစ်ကြသည်" ဟုပြောဆိုကြမည်သာဖြစ်သည်။ ထိုသို့သောသူများသည်-ပထမသော် အမှန်တရားကို နားမလည်ကြပေ။ ဒုတိယ နားလည်ရန်လည်း မကြိုးစားကြပေ။ တတိယ၌ မလိုမုန်းတီးမှု၊ ဇွတ်မှိတ်ဆန့်ကျင်မှုများကြောင့် စကားတိုင်းကို လက်မခံ၊ငြင်းဆန်ကြသည်။

အမှန်မှာ ၎င်းတို့သည် အမှန်တရားကို မကြားလိုကြ၊ မမြင်လိုကြ၊ မစဉ်းစားလိုကြ။ ထိုသို့သောသူများ၏ စိတ်နှလုံးများသည် တစ်နေ့တစ်ခြား ခက်ထန်လာသည်။ မာကျောလာသည်။ နောက်ဆုံးတွင် အမှန်တရားကို လက်ခံနိုင်သည့် စွမ်းရည်သတ္တိသည် လုံးဝ ဆိတ်သုဉ်းသွားလေတော့သည်။ ထိုသည့်ဘဝသို့ ရောက်နေသော ပုဂ္ဂိုလ်များအား တရားဓမ္မဟောကြား၍ မရသည့်အတွက် တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)သည် စိတ်ပျက်ရန်မလိုပေ။ တမန်တော်ပီပီ ကြံ့ခိုင်တည်ကြည်စွာ မိမိ၌တာဝန်ရှိသည့်အတိုင်း တရားဓမ္မဟောညွှန်ပြနေရမည်သာဖြစ်သည်။ အနည်းငယ်စိုးစဉ်းမျှ တွေဝေဒေငိုင်၊ ယိမ်းယိုင်ခြင်းမရှိရာ၊ အလ္လာဟ်အရှင်မြတ်၏ ကတိတော်သည် မှန်သည်။ သို့ဖြစ်ရာ နောက်ဆုံးတွင် အမှန်တရားသည် အောင်မြင်ရမည်သာ။

# လွတ်က်မာန်သုခမိန်ကဏ္ဍ

سُوْرَةُ لُقْمَانَ

ဤကဏ္ဍသည် သုခမိန်ကြီး လွတ်က်မာန်၏အကြောင်း ပါဝင်သော ကဏ္ဍဖြစ်သည်။
မက္ကာမြို့တော်၌ ကျရောက်ခဲ့၏။
ဤကဏ္ဍတွင် အာယတ်တော် (၃၄)ပါး၊ ရကူအ်အပိုဒ်(၄)ပိုဒ် အသီးသီးပါရှိ၏။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ

အလွန်သနားတော်မူသော၊ အထူးသနားတော်မူသော အလ္လာဟ်အရှင်မြတ်၏နာမံတော်ဖြင့် အစပြုပါ၏။

الٓمّٓ ﴿١﴾

၁။ အလစ်ဖ်၊ လာမ်၊ မီမ်။

تِلْكَ اٰيٰتُ الْكِتٰبِ الْحَكِيْمِ ﴿٢﴾

၂။ ဤသည် ဉာဏ်ပညာနှင့် ပြည့်စုံသော ကျမ်းဂန်၏ (အကြင်) အာယတ်တော်များပင်။

هُدًى وَّرَحْمَةً لِّلْمُحْسِنِيْنَ ﴿٣﴾

၃။ (ယင်း အာယတ်တော်များသည် အကြင်) သူမွန် သူမြတ်တို့အဖို့ တရားလမ်းညွှန်သည်လည်းကောင်း၊ ကရုဏာတော်သည်လည်းကောင်း ဖြစ်ကြပေသည်။

الَّذِيْنَ يُقِيْمُوْنَ الصَّلٰوةَ وَيُؤْتُوْنَ الزَّكٰوةَ وَهُمْ بِالْاٰخِرَةِ هُمْ يُوْقِنُوْنَ ﴿٤﴾

၄။ (ထိုသူမွန်သူမြတ်တို့သည်) "ဆွလာတ်" ဝတ်ပြုမှုကို ဆောက်တည်ကြကုန်၏။ ၎င်းပြင် "ဇကာတ်" ပေးဆောင်ကြကုန်၏။ ထိုမှတပါး ၎င်းတို့သည် တမလွန်ဘဝကို ယုံကြည်ကြကုန်၏။

اُولٰٓئِكَ عَلٰى هُدًى مِّنْ رَّبِّهِمْ وَاُولٰٓئِكَ هُمُ الْمُفْلِحُوْنَ ﴿٥﴾

၅။ ထိုသူတို့ကား မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ် အထံတော်မှ တရားလမ်းမှန်ပေါ်၌ (ရပ်တည်လျက်) ရှိကြပေသည်။ ထိုသူတို့သည်သာလျှင် အောင်မြင်မှုရရှိသောသူများ ဖြစ်ကြကုန်သတည်း။ [၁]

---

(၁) ဤအာယတ်တော်များနှင့် အနက်သဘောတူ အာယတ်တော်များသည် ဂါဝီကဏ္ဍ၏ အစတွင်ပါရှိခဲ့ချေပြီ။ သက်ဆိုင်ရာ အဖွင့်များကိုလည်း အကျယ်ရေးသားခဲ့ပေပြီ။ ပြန်လည်ရှုပါကုန်။

وَمِنَ النَّاسِ مَنْ يَّشْتَرِيْ لَهْوَ الْحَدِيْثِ لِيُضِلَّ عَنْ سَبِيْلِ اللّٰهِ بِغَيْرِ عِلْمٍ ۖ وَّيَتَّخِذَهَا هُزُوًا ۗ اُولٰٓئِكَ لَهُمْ عَذَابٌ مُّهِيْنٌ ﴿٦﴾

၆။ စင်စစ်သော်ကား လူတို့အနက် အသိပညာ သက်သေအထောက်အထားမရှိဘဲ (သူတပါးတို့အား) အလ္လာဟ်အရှင်မြတ်၏လမ်းတော်မှ ချွတ်ချော် တိမ်းပါး စေအံ့သောငှာလည်းကောင်း၊ ယင်းလမ်းတော်ကို ပြက်ရယ်ပြောင်လှောင်ဖွယ်ရာ ပြုလုပ်အံ့သောငှာလည်း ကောင်း၊ အချည်းနှီး အကျိုးမဲ့သောစကားကို ဝယ်ယူသောသူလည်းရှိ၏။ ယင်းကဲ့သို့သောသူတို့၌ ဂုဏ်အသရေ ပျက်စေသောပြစ်ဒဏ်ရှိချေမည်။[၁]

وَاِذَا تُتْلٰى عَلَيْهِ اٰيٰتُنَا وَلّٰى مُسْتَكْبِرًا كَاَنْ لَّمْ يَسْمَعْهَا كَاَنَّ فِيْٓ اُذُنَيْهِ وَقْرًا ۚ فَبَشِّرْهُ بِعَذَابٍ اَلِيْمٍ ﴿٧﴾

၇။ ၎င်းပြင် ထိုသူ၏ရှေ့၌ ငါအရှင်မြတ်၏ "အာယတ်" တော်များ ဖတ်ကြားသောအခါ ထိုသူသည် ယင်း(အာယတ်တော်)များကို မကြားဘိသကဲ့သို့ လည်းကောင်း၊ ထိုသူ၏ နားနှစ်ဖက်သည် ပင်းနေဘိသကဲ့သို့လည်းကောင်း မျက်နှာလွှဲ၍ သွားလေ၏။ သို့ဖြစ်ပေရာ (အို-နဗီတမန်တော်၊) အသင်သည် ၎င်းအား ပြင်းပြနာကျင်ဖွယ်ဖြစ်သော ပြစ်ဒဏ်နှင့်စပ်လျဉ်းသော သတင်းကို ပြောကြားပါလေ။

---

(၁) အထက်တွင်အလ္လာဟ်အရှင်မြတ်၏ တရားဓမ္မအပေါ်၌ ရပ်တည်လျက် သာသနာ့ကျင့်စဉ်ကျင့်ရပ်များကို လိုက်နာကျင့်သုံးသော၊ အမှန်တကယ် အောင်မြင်ကြသော သူတော်စင်များ၏အကြောင်းကို မိန့်ဆိုထားတော်မူသည်။ ယခုဤအာယတ်တော်တွင် အဆိုပါသူတော်စင်များနှင့် ဆန့်ကျင်ဘက်ဖြစ်သည့် သူယုတ်မာများ၏ အကြောင်းကို မိန့်ဆိုထားတော်မူသည်။ ထိုသူယုတ်မာများသည်မိမိတို့၏ မိုက်မဲမှု၊ နောင်ရေး မတွေးတောမှုများကြောင့် ကုရ်အာန်ကျမ်းမြတ်ကိုပယ်ပြီး ပွဲလမ်းသဘင်၊ အကအခုန်၊ အလောင်းကစား၊ အပျော်အပါးအစရှိသည့် အဓိပ္ပာယ်မရှိသော၊ အချည်းနှီးသော၊ အချိန်ဖြုန်းတီးသော၊ သိမ်ဖျင်းသော၊ အဟောသိကံဖြစ်သော အလုပ်များတွင် မိမိတို့ကိုယ်တိုင် နှစ်မွန်းနေကြသည်သာမက သူတစ်ပါးကိုလည်း နှစ်မွန်းစေပြီး အလ္လာဟ်အရှင်မြတ်၏ လမ်းတော်မှ ဖယ်ရှားကြသည်။ သာသနာရေးရာများကို ပြက်ချော်သမှု ပြုကြသည်။ ဤသူယုတ်မာများသည် မိမိတို့ကိုယ်ကိုမိမိတို့ ပျက်စီးအောင် ပြုလုပ်ကြသည်သာမက သူတစ်ပါးတို့ကိုလည်း ဖျက်ဆီးကြသည်။

ဤအာယတ်တော်တွင်ပါရှိသည့် ( لَهْوَ الْحَدِيْثِ )'လဟ်ဝလ်ဟဒီဆ်' ဟူသောအပုဒ်ကို မုဖတ်စ်စိရ်များသည် အမျိုးမျိုးအနက်ဖွင့်ကြသည်။ ဟစန်က ယင်းပုဒ်နှင့် စပ်လျဉ်း၍ အောက်ပါအတိုင်း ဖွင့်ဆိုထားသည်။

"လဟ်ဝလ်ဟဒီဆ်" ဟူသည် အလ္လာဟ်အရှင်မြတ်အား ဝတ်ပြုခြင်း အောက်မေ့တသသတိရခြင်းများမှ အသင့်အား အတားအဆီး ဖြစ်စေသည့် အရာအားလုံးကို ဆိုလိုသည်။ ဥပမာ- အကျိုးမရှိသော ပုံပြင်ဒဏ္ဍာရီ➤➤

၈။ ဧကန်မလွဲ "အီမာန်" သက်ဝင်ယုံကြည်၍ ကောင်းမြတ်သောအကျင့်သီလများကို ကျင့်မှုဆောက်တည်ကြကုန်သော သူတို့အဖို့ စည်းစိမ်ချမ်းသာနှင့် ပြည့်စုံသောဥယျာဉ်များ ရှိပေသည်။ ၁

إِنَّ الَّذِينَ آمَنُوا وَعَمِلُوا الصَّالِحَاتِ لَهُمْ جَنَّاتُ النَّعِيمِ ۝٨

၉။ (၎င်းတို့သည်) ယင်းဥယျာဉ်များ၌ အမြဲထာဝစဉ် နေထိုင်စံမြန်းကြပေမည်။ (ဤသည်) အလ္လာဟ်အရှင်မြတ်က မှန်ကန်စွာ ကတိထားရှိတော်မူခြင်းပင် ဖြစ်ပေသည်။ အမှန်စင်စစ်သော်ကား ထိုအရှင်မြတ်သည် တန်ခိုးအာနုဘော်ဖြင့် လွှမ်းမိုးတော်မူသော၊ ဆင်ခြင်တုံတရားနှင့် ပြည့်စုံတော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

خَالِدِينَ فِيهَا ۖ وَعْدَ اللَّهِ حَقًّا ۚ وَهُوَ الْعَزِيزُ الْحَكِيمُ ۝٩

၁၀။ ထိုအရှင်မြတ်သည် မိုးကောင်းကင်များကို (အသင်တို့ မမြင်နိုင်ကြသောတိုင်များနှင့်) ဖန်ဆင်းတော်မူခဲ့၏။ (တနည်း) အသင်တို့ မြင်နေကြသည့် အတိုင်း တိုင်များမပါဘဲ ဖန်ဆင်းတော်မူ၏။ ၎င်းပြင် ထိုအရှင်မြတ်သည် ပထဝီမြေ၌ ယင်းပထဝီမြေသည် အသင်တို့နှင့်တကွ ယိမ်းယိုင်မသွားစေရန် လေးလံသောတောင်များကို (ကျောက်ဆူးများသဖွယ်) ချထားတော်မူ၏။ ထို့ပြင် ထိုအရှင်မြတ်သည် ယင်းပထဝီမြေဝယ် သတ္တဝါအမျိုးမျိုးတို့ကို ပြန့်ပွားစေတော်မူ၏။

خَلَقَ السَّمَاوَاتِ بِغَيْرِ عَمَدٍ تَرَوْنَهَا ۖ وَأَلْقَىٰ فِي الْأَرْضِ رَوَاسِيَ أَنْ تَمِيدَ بِكُمْ وَبَثَّ فِيهَا مِنْ كُلِّ دَابَّةٍ ۚ وَأَنْزَلْنَا مِنَ السَّمَاءِ مَاءً فَأَنْبَتْنَا فِيهَا مِنْ كُلِّ زَوْجٍ كَرِيمٍ ۝١٠

---

➢➢ ပြောခြင်း ပြက်ချော်ပြောင်လှောင်သော စကားများ ပြောဆိုနားထောင်ခြင်း၊ အချည်းနှီးသော အလုပ်များတွင် နစ်မွန်းခြင်း၊ တေးသီချင်းဆိုခြင်း၊ တီးမှုတ်ခြင်း-- စသည်များ။ ရူဟုလ်မအာနီ။

① အထက်တွင် အလ္လာဟ်အရှင်မြတ်၏ လမ်းတော်မှ မိမိကိုယ်တိုင် တိမ်းယိမ်းလွဲမှားသည်သာမက သူတစ်ပါးတို့အား လွဲမှားစေသော သူယုတ်တို့ခံစားကြရမည့် ပြစ်ဒဏ်အကြောင်း မိန့်ဆိုထားတော်မူသည်။ ယခုဤအာယတ်တော်တွင် အီမာန်ယုံကြည်၍ ကောင်းမြတ်သောအကျင့်သီလ ဆောက်တည်ကြသည့် သူတော်စင်များ စံစားကြရမည့် သုခဘုံများအကြောင်း မိန့်ဆိုထားတော်မူသည်။

ထိုမှတပါး ငါအရှင်မြတ်သည် မိုးကောင်းကင်မှ (မိုး) ရေကို ချပေးသနားတော်မူပြီးနောက် ယင်းပထဝီမြေ၌ ကောင်းမြတ်သော (သစ်ပင်၊ ဝါးပင်) အမျိုးမျိုး အစားစားတို့ကို ပေါက်ရောက်စေတော်မူပေသည်။

၁၁။ ဤသည်(တို့)ကား အလ္လာဟ်အရှင်မြတ်၏ အဖန်ဆင်းခံများ/ဖန်ဆင်းမှုများပင်။ သို့ဖြစ်ပေရာ အသင်တို့သည် ထိုအရှင်မြတ်အပြင် ရှိကြသောသူတို့က မည်သည့်အရာများ ဖန်ဆင်းခဲ့ကြသည်ကို ငါ့အား ပြသကုန်လော့။ ထိုသို့အလျှင်းမဟုတ်၊ စင်စစ်မှာမူကား မတရားသောသူတို့သည် ထင်ရှားစွာသောလမ်းမှား၌ပင် ရှိကြကုန်သတည်း။ [၁]

هٰذَا خَلْقُ اللّٰهِ فَاَرُوْنِيْ مَاذَا خَلَقَ الَّذِيْنَ مِنْ دُوْنِهٖ ۭ بَلِ الظّٰلِمُوْنَ فِيْ ضَلٰلٍ مُّبِيْنٍ ۝۱۱

၁၂။ ထို့ပြင် စေကန်မလွဲ ငါအရှင်မြတ်သည် 'လွတ်က်မာန်' အား ဉာဏ်ပညာကို ချီးမြှင့်ပေးသနားတော်မူခဲ့၏။ [၂] (၎င်းပြင်) အသင်သည် အလ္လာဟ်အရှင်မြတ်အား ကျေးဇူးတင်ပါလေ။ [၃]

وَلَقَدْ اٰتَيْنَا لُقْمٰنَ الْحِكْمَةَ اَنِ اشْكُرْ لِلّٰهِ ۭ وَمَنْ يَّشْكُرْ فَاِنَّمَا

---

(၁) အလ္လာဟ်အရှင်မြတ်ဖန်ဆင်းထားတော်မူသော အရာများကား အနန္တော၊အနန္တတည်း။ အံ့မဆုံးတည်း။ အခါခပ်သိမ်း တွေ့မြင်နေရပေသည်။ သို့ရာတွင် အလ္လာဟ်အရှင်မြတ်မှအပ ကာဖိရ်မုရှ်ရစ်က်တို့ ဆည်းကပ်ကိုးကွယ်နေကြသော ဘုရားများသည် အဘယ်တစ်စုံတစ်ရာကို ဖန်ဆင်းထားကြသနည်း။ ဤမေးခွန်းကား ထိထိမိမိ ရှိလှ၏။ အမှန်မှာ ယင်းဘုရားများ ဖန်ဆင်းထားသောအရာဟူ၍ တစ်စုံတစ်ရာမျှမရှိ၊ ၎င်းတို့၌ တစုံတစ်ရာကို ဖန်ဆင်းနိုင်သည့် စွမ်းရည်သတ္တိလည်း စိုးစဉ်းမျှမရှိ။ သို့ပါသော်လည်း မိမိတို့ကိုယ်ကိုမိမိတို့ ကျူးကျော်စော်ကားနေကြသော မုရှ်ရစ်က်တို့သည် အထင်အရှား လွဲမှားလျက်ပင် ရှိကြပေသည်။ ဤအာယတ်တော်တွင် ပါရှိသော ကျူးကျော်စော်ကားသူများဟူသည် မုရှ်ရစ်က်များကို ဆိုလိုသည်။ (ကြည့်- အိဗ်နုကဆီရ်)

(၂) **ပညာရှင်ကြီး 'လွတ်က်မာန်'။**

ပညာရှင်ကြီး လွတ်က်မာန်သည် မည်သည့်နိုင်ငံသားဖြစ်သည်၊ မည်သည့်ခေတ်တွင် ပေါ်ထွန်းခဲ့သည်၊ ဤတွင် အဆိုကွဲပြားလျက်ရှိသည်။ အတိအကျ ပိုင်းခြားသတ်မှတ်ပြဋ္ဌာန်းရန် မဖြစ်နိုင်သေးပေ။ ပညာရှင်အများစု၏ ယူဆချက်အရ လွတ်က်မာန်သည် အီသီယိုပီးယား နိုင်ငံသားဖြစ်သည်။ တမန်တော်ဒါဝူဒ် (အလိုင်ဟစ္စလာမ်)၏ ခေတ်တွင် ထွန်းကားခဲ့သည်။ တဖ်စီကျမ်းကြီးများတွင် ပညာရှင်ကြီးလွတ်က်မာန်၏ များစွာသောအတ္ထုပတ္တိများနှင့် စကားများကို တွေ့ရှိရပေသည်။ (ယင်းသည့် အတ္ထုပ္ပတ္တိများနှင့်စကားများသည် မည်ရွေ့မည်မျှ မှန်ကန်သည်ကိုမူ အလ္လာဟ်အရှင်မြတ်သာလျှင် သိတော်မူသည်။) ➢➢

يَشْكُرُ لِنَفْسِهٖ ۚ وَمَنْ كَفَرَ فَاِنَّ اللّٰهَ غَنِيٌّ حَمِيْدٌ ⑫

စင်စစ်သော်ကား မည်သူမဆို ကျေးဇူးတင်ရှိပါမူ ထိုသူသည် မိမိအကျိုးငှာသာလျှင် ကျေးဇူးတင်လေသည်။ သို့ရာတွင် မည်သူမဆို ကျေးဇူးကန်းခဲ့မူ မလွဲကေန် အလ္လာဟ်အရှင်မြတ်သည် လိုလားတောင့်တခြင်း ကင်းမဲ့တော်မူသော၊ အလွန်တရာ ချီးမွမ်းခြင်း ခံထိုက်တော်မူသော အရှင်ဖြစ်တော်မူသည်ဟူ၍ (အမိန့်တော် ထုတ်ပြန်တော်မူခဲ့ပေသတည်း)။

وَاِذْ قَالَ لُقْمٰنُ لِابْنِهٖ وَهُوَ يَعِظُهٗ يٰبُنَيَّ لَا تُشْرِكْ بِاللّٰهِ ۗ اِنَّ الشِّرْكَ لَظُلْمٌ عَظِيْمٌ ⑬

၁၃။ ၎င်းပြင် တရံရောအခါဝယ် “လွတ်က်မာန်” သည် မိမိသားကို ဆုံးမဩဝါဒပေးရာ၌ (ဤ)သို့ ပြောကြားခဲ့လေ၏။ အို-ချစ်သား၊ အသင်သည် (မည်သည့်တစ်စုံတစ်ရာကိုမျှပင်) အလ္လာဟ်အရှင်မြတ်နှင့် တွဲဖက်နိုင်းယှဉ် ကိုးကွယ်မှုကို မပြုလေနှင့်။

---

➤➤ အာလင်မ်ပညာရှင် အများစု၏ယူဆချက်အရ လွတ်က်မာန်သည် နဗီတမန်တော်တစ်ပါးမဟုတ်၊ အလ္လာဟ်အရှင်မြတ်အား အလွန်ချစ်ကြောက်ရိုသေခန့်ညားသော သူတော်စင်ကြီးတပါးဖြစ်သည်။ အလ္လာဟ်အရှင်မြတ်သည် ၎င်းအား ဉာဏ်ပညာအမြော်အမြင်ကို အထူးတလည် ချီးမြှင့်တော်မူခဲ့ပေသည်။ ပညာရှင်ကြီး လွတ်က်မာန်သည် မိမိ၏ပညာဉာဏ်စွမ်းဖြင့် တမန်တော်များ၏ ဩဝါဒတော်များနှင့် လျော်ညီသည့် များစွာသော စကားများကိုပင် ဖွင့်ဟပြောဆိုနိုင်ခဲ့ပေသည်။ အသိဉာဏ်နှင့်ယှဉ်သော၊ အမြော်အမြင်နှင့်ပြည့်ဝသော၊ ပညာပါသော၊ ၎င်း၏များစွာသော စကားများသည်လည်း ကျော်ကြားလျက်ရှိပေသည်။

လ္လာဟ်အရှင်မြတ်သည် ယင်းသည့် စကားရပ်များအနက် အချို့ကို ကုရ်အာန်ကျမ်းမြတ်တွင်ပင် ထည့်သွင်းဖော်ပြတော်မူပြီး၊ ပညာရှင်ကြီး လွတ်က်မာန်၏ အဆင့်အတန်းနှင့် ဂုဏ်အင်ဒြပ်ကို ပို၍မြင့်မားစေတော်မူလေသည်။ ယင်းသို့မြင့်မားစေတော်မူခြင်း၏ အလိုသဘောမှာ ကုဖ်ရ်၊ ရှရစ်က်စသည့်ပြစ်မှုများသည် လူ့သဘာဝဓမ္မအရ လည်းကောင်း၊ တမန်တော်များ၏ ဟောပြောချက်များအရလည်းကောင်း၊ အလွန်ဆိုးရွားကြောင်း သိရှိရသကဲ့သို့ ကမ္ဘာ့လက်ရွေးစင် ပညာရှင်ကြီးများ သည်လည်း ဤသည့်အချက်ကို မိမိတို့၏ပညာဉာဏ်စွမ်းဖြင့် ထောက်ခံလျက် ရှိကြသည်ကို ထင်ရှားပြရန်လည်း ဖြစ်နိုင်ပေသည်။ သို့ဖြစ်ရာ ‘တောင်ဟီဒ်’ ကိုစွန့်ပယ်ပြီး ရှရစ်က်အမှုတွင် နစ်မွန်းနေခြင်းသည် လွဲမှားခြင်းကြီးမက လွဲမှားခြင်းပင် မဟုတ်တုံလော။

⑫ အလ္လာဟ်အရှင်မြတ်သည် လွတ်က်မာန်အား မိမိ၏ကျေးဇူးတော်နှင့် အထူးသဖြင့် အသိဉာဏ်အမြော်အမြင်၊ မှန်ကန်သောအတွေးအခေါ်နှင့် မှန်ကန်သော အကျင့်အမူများကို ချီးမြှင့်တော်မူပြီး၊ မိမိ(အလ္လာဟ်အရှင်မြတ်)အား ကျေးဇူးတင်ရန် မိန့်ကြားထားတော်မူသည်။

(အကြောင်းမူကား) မချွတ်ကေန် တွဲဖက် နိုင်းယှဉ် (ကိုးကွယ်)မှုသည် အမှန်ပင် ကြီးလေးလှစွာသော မတရားမှု ဖြစ်သောကြောင့်တည်း။ ၁

وَوَصَّيْنَا الْإِنسَانَ بِوَالِدَيْهِ حَمَلَتْهُ أُمُّهُ وَهْنًا عَلَىٰ وَهْنٍ وَفِصَالُهُ فِي عَامَيْنِ أَنِ اشْكُرْ لِي وَلِوَالِدَيْكَ إِلَيَّ الْمَصِيرُ ﴿١٤﴾

၁၄။ ထိုမှတပါး ငါ(အလ္လာဟ်)အရှင်မြတ်သည် "မနုဿ" လူသားအား ၎င်း၏မိဘနှစ်ပါးနှင့် ပတ်သက်၍ (ဤသို့)လေးနက်စွာ အမိန့်ပေးတော်မူခဲ့၏။ ၎င်း၏မိခင်မှာ အားအင်ချည့်နဲ့မှုအပေါ်၌ အားအင်ချည့်နဲ့မှုကို ခံစားလျက် ၎င်းအား (မိမိဝမ်းတွင်း၌) လွယ်ပိုက်ခဲ့လေ၏။ ထိုမှတပါး နှစ်နှစ်မြောက်သောအခါ၌သာလျှင် ၎င်းအား နို့ဖြတ်လေ၏။ (သို့ဖြစ်ပေရာ) အသင်သည် ငါအရှင်မြတ်အားလည်းကောင်း၊ အသင်၏မိဘနှစ်ပါးတို့အားလည်းကောင်း၊ ကျေးဇူးတင်လော့၊ (အသင်လူသား၏) ပြန်လည်ရာဌာနသည် ငါအရှင်မြတ်အထံတော်၌ပင် ဖြစ်လေသည်။ ၂

---

① **လွတ်က်မာန်က မိမိ၏သားအားဆုံးမသည့်စကား၊**

(၁) ပညာရှင်ကြီး လွတ်က်မာန်က မိမိသားအား "သား- အလ္လာဟ်အရှင်မြတ် တစ်ပါးတည်းကိုသာလျှင် ကိုးကွယ်ပါလေ။ ထိုအရှင်မြတ်နှင့် တွဲဖက်၍ မည်သည့်အရာကိုမျှ မကိုးကွယ်နှင့်၊ သို့တွဲဖက်ကိုးကွယ်ခြင်းသည် အလွန်ကြီးမားသော မတရားပြုမှုခြင်းပင်" ဟူ၍ ဦးစွာပထမ သွန်သင်ဆုံးမ ဩဝါဒပေးခဲ့လေသည်။

အလ္လာဟ်အရှင်မြတ်သည် အနန္တတန်ခိုးတော်ရှင် ဖြစ်တော်မူသည်။ ထိုအရှင်မြတ်၌ ဂုဏ်ရည်တူတွဲဖက်ယှဉ်ဖက်ဟူ၍ အလျှင်းမရှိ။ သို့ပါလျက် အချို့လူသားသည် ကိုယ်ပိုင်စွမ်းရည်သတ္တိ စိုးစဉ်းမျှမရှိသော ဘဝတူ အဖန်ဆင်းခံတစ်ဦးကို သို့မဟုတ် အဖန်ဆင်းခံတစ်စုံတစ်ရာကို ထိုသို့သော အနန္တတန်ခိုးတော်ရှင်နှင့် ဂုဏ်ရည်တူထား၍ ကိုးကွယ်ရက်သည်။ ဤထက်ကြီးမားသော မတရားပြုမှုခြင်းသည် အဘယ်မှာရှိနိုင်အံ့နည်း။ ထို့ပြင်တဝ လူသားသည် အဖန်ဆင်းခံတို့တွင် အမြတ်ဆုံးသတ္တဝါဖြစ်သည်။ သို့ပါလျက် အချို့လူသားသည် မိမိ၏ဂုဏ်သိက္ခာကိုမျှ မထောက်ထားပဲ မိမိထက်နိမ့်ကျသော၊ အညံ့ဆုံးဖြစ်သော အရာများရှေ့မှောက်၌ ဦးချရက်သည်။ ဤထက်ကြီးမားသော မိုက်မှားမှု၊ မိမိကိုယ်ကိုမိမိ ဤထက်ဆိုးရွားသော စော်ကားမှုသည် အဘယ်မှာ ရှိနိုင်တော့အံ့နည်း။"

② **မိဘနှစ်ပါးနှင့် ပတ်သက်သော တာဝန်၊**

လူသားတို့ လိုက်နာထမ်းဆောင်ရမည့် တာဝန်အပေါင်းတွင် အလ္လာဟ်အရှင်မြတ်နှင့် ပတ်သက်သော တာဝန်များကား အကြီးဆုံးပင်။ အလ္လာဟ်အရှင်မြတ်နှင့် ပတ်သက်သော တာဝန်များ၏နောက်တွင် မိဘနှစ်ပါးနှင့် ပတ်သက်သော တာဝန်များမှာ အကြီးဆုံးပင်ဖြစ်ပေသည်။ မိဘနှစ်ပါးတွင် မိခင်နှင့်ပတ်သက်သော ▶▶

وَإِنْ جَاهَدَاكَ عَلَىٰ أَنْ تُشْرِكَ بِي مَا لَيْسَ لَكَ بِهِ عِلْمٌ فَلَا تُطِعْهُمَا وَصَاحِبْهُمَا فِي الدُّنْيَا مَعْرُوفًا وَاتَّبِعْ سَبِيلَ مَنْ أَنَابَ إِلَيَّ ثُمَّ إِلَيَّ

၁၅။ သို့ရာတွင် အကယ်၍သာ ထိုမိဘနှစ်ပါးတို့သည် အသင်၌ သက်သေအထောက်အထား အသိပညာ တစုံတရာမရှိသော အရာတခုခုကို ငါအရှင်မြတ်နှင့် တွဲဖက်နိုင်းယှဉ်ရန် အသင့်အား အနိုင်အထက် ပြုခဲ့ကြသည်ရှိသော် အသင်သည် ထိုမိဘနှစ်ပါး၏ အမိန့်ကိုပင် မလိုက်နာလေနှင့်။ [၁] သို့ရာတွင် အသင်သည် ဤလောကီဘဝ၌မူ ထိုမိဘနှစ်ပါးနှင့် ကောင်းမွန်စွာ ဆက်ဆံလော့။ ထိုမှတပါး အသင်သည် ငါအရှင်မြတ်ဘက်သို့ စိတ်စေတနာ ဖြူစင်စွာ ပြန်လှည့်သောသူ၏ လမ်းစဉ်ကို လိုက်နာလော့။

➤➤ တာဝန်များသည် ဖခင်နှင့်ပတ်သက်သော တာဝန်များထက်ပင် ကြီးမားလှပေသည်။ အဘယ်ကြောင့်ဆိုသော် မိခင်သည် အားအင် ချည့်နဲ့စွာဖြင့်၊ ပင်ပန်းကြီးစွာဖြင့် ကိုယ်ဝန်ကို လပေါင်းများစွာ ဆောင်ထားရရှာသည်။ သို့ပင်ပန်းကြီးစွာနှင့် ဆောင်ထားရသော ကိုယ်ဝန်ကို ဒုက္ခကြီးစွာဖြင့် မွေးဖွားရရှာသည်။ သို့မွေးဖွားပြီးနောက်တွင်လည်း မိမိ၏ ရင်သွေးအား ဒုက္ခကြီးငယ် အမျိုးမျိုးကိုခံစားပြီး၊ အစားပျက်၊အသောက်ပျက်၊ အအိပ်ပျက်၊အနေပျက်ဖြစ်ကာ ယုယပိုက်ထွေး နို့ရည်တိုက်ကျွေးရှာသည်။ လူလားမြောက်သည်အထိ မွေးမြူပြုစုရှာသည်။ သို့ဖြစ်ပေရာ လူသားသည် ပထမသော် အလ္လာဟ်အရှင်မြတ်နှင့် ပတ်သက်သော တာဝန်များကို သိရမည်။ ထမ်းဆောင်ရမည်။ ဒုတိယတွင် မိဘနှစ်ပါးနှင့် ပတ်သက်သော တာဝန်များ အထူးသဖြင့် မိခင်နှင့်ပတ်သက်သော တာဝန်များကို သိရမည်။ ထမ်းဆောင်ရမည်။ (ဝါ)လူသားသည် အလ္လာဟ်အရှင်မြတ်အား ဆည်းကပ်ကိုးကွယ်ရမည်။ ထို့နောက် မိဘနှစ်ပါးအား အတတ်နိုင်ဆုံး၊ အကောင်းဆုံးပြုစုရမည်။ မိဘနှစ်ပါးအား ပြုစုရာတွင် အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်များကို မဆန့်ကျင်မိစေရ။ အဘယ်ကြောင့်ဆိုသော် ထိုအရှင်မြတ်နှင့် ပတ်သက်သော တာဝန်များသည် အကြီးဆုံးပင်ဖြစ်သည်။ ထို့ပြင်တဝ လူသားသည် တနေ့ထိုအရှင်မြတ်၏ အထံတော်သို့ ပြန်လည် ရောက်ရှိမည်ဖြစ်သည်။

အလ္လာဟ်အရှင်မြတ်၏နောက် မိဘနှစ်ပါး၏ ကျေးဇူးများကား များပြားလှဘိသည်။ တာဝန်ကြီးများကား ကြီးလေးလှဘိသည်။ ထိုသို့ကျေးဇူးများပြားလှသော၊ တာဝန်ကြီးမားလှသော မိဘနှစ်ပါးကပင် အကယ်တန္တု တွဲဖက်နိုင်းယှဉ်ကိုးကွယ်ရန်၊ အစ္စလာမ်နှင့်ဆန့်ကျင်သော အမှုများကို ကျူးလွန်ရန် အတင်းအဓမ္မ တိုက်တွန်းကြလင့်ကစား လိုက်နာရန်မလို။ အစ္စလာမ်နှင့် ဆန့်ကျင်၍ ပြုလုပ်ရမည့် ကိစ္စများတွင် မိဘနှစ်ပါး၏စကားများကို မနာခံရသော်လည်း လောကီရေးရာများတွင်မူ မိဘနှစ်ပါးအား အသက်ထက် ဆုံးနာခံကာ ကောင်းမွန်စွာပြုစု၍ နေရမည်သာ။ ဤအကြောင်း ကုရ်အာန်(၂၉း၈)၏အဖွင့်တွင် အကျယ်ရေးသားခဲ့ပေပြီ။

(၁) သားသမီးများသည် အစ္စလာမ်နှင့်ဆန့်ကျင်သည့် ကိစ္စများတွင် မိဘများအား အတုမခိုးရ၊ မိဘများ၏ စကားများကို မနာခံရ၊ အလ္လာဟ်အရှင်မြတ်ထံတော်သို့ လှည့်ကြသော (ဝါ) ငါ့အား ယုံကြည်မြတ်နိုး၍ ငါ၏အမိန့်တော်များကို စိတ်စေတနာ ဖြူစင်စွာဖြင့် လိုက်နာကျင့်မူသော တမန်တော်များနှင့် သူတော်စင်များ၏ လမ်းစဉ်ကိုသာ လိုက်နာကြရပေမည်။

مَرْجِعُكُمْ فَاُنَبِّئُكُمْ بِمَا كُنْتُمْ تَعْمَلُوْنَ ⑮

အသင်တို့ (အားလုံး)မှာ ငါအရှင်မြတ် အထံတော်သို့သာလျှင် ပြန်လှည့်၍ လာကြရပေမည်။ ထိုအခါ ငါအရှင်မြတ်သည် အသင်တို့ ကျင့်မှုပြုလုပ်ခဲ့ကြသည်တို့ကို အသင်တို့အား သိစေတော်မူအံ့သတည်း။

يٰبُنَيَّ اِنَّهَآ اِنْ تَكُ مِثْقَالَ حَبَّةٍ مِّنْ خَرْدَلٍ فَتَكُنْ فِيْ صَخْرَةٍ اَوْ فِي السَّمٰوٰتِ اَوْ فِي الْاَرْضِ يَاْتِ بِهَا اللّٰهُ ۗ اِنَّ اللّٰهَ لَطِيْفٌ خَبِيْرٌ ⑯

**၁၆။** အို-ချစ်သား၊ မုချဧကန် အပြုအမူတစုံတရာသည် မုန်ညင်းစေ့ခန့်မျှဖြစ်ပြီး၊ ကျောက်ဆောင်တခုခု၌ ရှိနေသည်ဖြစ်စေ၊ မိုးကောင်းကင်များ၌ ရှိနေသည်ဖြစ်စေ၊ ပထဝီမြေအတွင်း၌ရှိနေသည်ဖြစ်စေ၊ အလ္လာဟ်အရှင်မြတ်သည် ယင်းအပြုအမူကို (ရှေ့တော်မှောက်ဝယ်) အသင့်ရောက်စေတော်မူမည်ဖြစ်သည်။ [၁] စင်စစ်ဧကန် အလ္လာဟ်အရှင်မြတ်သည် နက်နဲသိမ်မွေ့သောအရာတို့ကို အလွန်တရာ သိမြင်တော်မူသောအရှင်၊ အလွန်တရာ ကြားသိတော်မူသောအရှင် ဖြစ်တော်မူ၏။

---

① **လွတ်က်မာန်က မိမိ၏သားအားဆုံးမသည့် စကား။**

(၂) ဆိုလိုသည်ကား၊ "သား- အဘယ်အရာမဆို အဘယ်အကျင့်အမူမဆို ကောင်းသည်ဖြစ်စေ ဆိုးသည်ဖြစ်စေ မုန်ညင်းစေ့ခန့်မျှပင် ရှိသည်ဖြစ်စေ၊ အလွန်လေးလံမာကျောသော ကျောက်ဆောင်တစ်ခုခု၏ အတွင်း၌ရှိနေသည်ဖြစ်စေ၊ အလွန်မြင့်စွင့်ဝေးလံသော မိုးကောင်းကင်များ၏ အထက်၌ ရှိနေသည်ဖြစ်စေ၊ အလွန်ထုထည်ကြီးမားသောမြေ၏ အမှောင်ထုအတွင်း၌ ရှိနေသည်ဖြစ်စေ၊ မည်သည့်နေရာ၌ပင် ရှိနေသည်ဖြစ်စေ၊ မည်သို့မည်ပုံ မည်ရွေ့မည်မျှပင် ရှိနေသည်ဖြစ်စေ၊ ထိုအရာသည် အလ္လာဟ်အရှင်မြတ်၏ တန်ခိုးတော်၊ ဉာဏ်တော်အောက်မှ လွတ်မြောက်နေနိုင်သည်မဟုတ်။ အချိန်ကျလာသည့်အခါ ထိုအရှင်မြတ်သည် ထိုအရာကို ရှေ့တော်မှောက် ယူဆောင်လာတော် မူမည်သာဖြစ်သည်။ အလ္လာဟ်အရှင်မြတ်သည် အတိုင်းမသိ နက်နဲသိမ်မွေ့သော အရာများကို အကြွင်းမဲ့ သိမြင်တော်မူသည်။ အရာခပ်သိမ်းကို အကြွင်းမဲ့ကြားသိတော်မူသည်။ ထိုအရှင်မြတ်၏ တန်ခိုးတော်နှင့် ဉာဏ်တော်များကား အနန္တောအနန္တပါတကား။ သို့ဖြစ်ရာ သား၊တစုံတခုကို ပြုလုပ်ရန် ကြံရွယ်တိုင်း ကြံရွယ်တိုင်း ကန့်လန့်ကာပေါင်းထောင်သောင်းကာရံပြီး အလွန်အလွန် ပိရိသိပ်သည်းလျှို့ဝှက်စွာ ပြုမူသော အပြုအမူသည်လည်း အလ္လာဟ်အရှင်မြတ်အဖို့မှာ အထင်သား၊အမြင်သား၊ အထင်အရှားဖြစ်နေသည်ကို သိထားပါလေ"။

يٰبُنَيَّ أَقِمِ الصَّلٰوةَ وَأْمُرْ بِالْمَعْرُوفِ وَانْهَ عَنِ الْمُنْكَرِ وَاصْبِرْ عَلٰى مَا أَصَابَكَ ۖ إِنَّ ذٰلِكَ مِنْ عَزْمِ الْأُمُورِ ﴿١٧﴾

၁၇။ အို-ချစ်သား၊ အသင်သည် 'ဆွလာတ်' ဝတ်ပြုမှုကို ဆောက်တည်ပါလေ။ ၎င်းပြင် အသင်သည် (သူတပါးတို့အားလည်း) ကောင်းမှု(ပြုလုပ်ကြရန်)နှင့် စပ်လျဉ်း၍ အမိန့်ပေးပါလေ။ ထို့ပြင် အသင်သည် မကောင်းမှုမှ (ကြဉ်ရှောင်ကြရန်) တားမြစ်ပါလေ။ ထိုမှတပါး အသင်သည် မိမိ၌ သက်ရောက်အံ့သော ဘေးဒုက္ခနှင့်စပ်လျဉ်း၍ ကြံ့ခိုင်စွာရှိပါလေ။ ဧကန်မလွဲ ဤ(ကြံ့ခိုင်စွာရှိခြင်း)သည် ဖွဲသတ္တိနှင့်သက်ဆိုင်သော အမှုကိစ္စတို့အနက်မှပင် ဖြစ်ချေသည်။

وَلَا تُصَعِّرْ خَدَّكَ لِلنَّاسِ وَلَا تَمْشِ فِي الْأَرْضِ مَرَحًا ۖ إِنَّ اللّٰهَ لَا يُحِبُّ كُلَّ مُخْتَالٍ فَخُورٍ ﴿١٨﴾

၁၈။ ၎င်းပြင် (အို-ချစ်သား) အသင်သည် လူတို့ရှေ့ဝယ် မိမိမျက်နှာကို စူ၍မထားလေနှင့်။ (လူတို့ဘက်မှ မိမိမျက်နှာကို မလွှဲပါလေနှင့်၊) ထို့ပြင် အသင်သည် ပထဝီမြေဝယ် မော်ကြွားလျက်လမ်းမလျှောက်လေနှင့်။ ဧကန်အမှန် အလ္လာဟ်အရှင်မြတ်သည် မည်သည့်စိတ်နေမြင့်သူ၊ အထင်ကြီးသူ၊ ဝါကြွားသူ၊ ဂုဏ်မောက်သူတို့ကို နှစ်သက်တော်မူသည် မဟုတ်ပေ။

وَاقْصِدْ فِي مَشْيِكَ وَاغْضُضْ مِنْ صَوْتِكَ ۚ إِنَّ أَنْكَرَ الْأَصْوَاتِ لَصَوْتُ الْحَمِيرِ ﴿١٩﴾

၁၉။ ထို့ပြင် အသင်သည် မိမိလမ်းလျှောက်မှု၌ အလယ်အလတ်ပြုလုပ်ပါလေ။ ကျွန်ုပ်တော့စည်းပါလေ။ ထိုမှတပါး အသင်သည် မိမိအသံကို နှိမ့်ချပါလေ။ မလွဲဧကန် စက်ဆုပ်ဖွယ်အဖြစ်ဆုံး အသံကား မြည်းသတ္တဝါတို့၏အသံပင် ဖြစ်ချေသတည်း။ [၁]

---

(၁) **လွတ်က်မာန် မိမိ၏သားအား ဆုံးမသည့်စကား။**

(၃) ဆိုလိုသည်ကား၊ သား- စနစ်တကျ 'ဆွလာတ်'ပြုပါလေ။ ဆွလာတ်သည်ဝတ်ပြုမှု အပေါ်ရင်းတွင် အချုပ်ဖြစ်သည်။

(၄) သား၊ အသင်သည် မိမိကိုယ်တိုင် တရားလမ်းမှန်အပေါ်၌ ရပ်တည်ပြီး သူတစ်ပါးတို့အားလည်း ကောင်းရာကို ညွှန်ပြပါလေ။ မကောင်းရာမှ တားမြစ်ပါလေ။

(၅)သား၊ သူတစ်ပါးအား တရားဓမ္မ ဟောညွှန်ပြရေးတွင် မိမိ၌ ဘေးဒုက္ခတစုံတရာ သက်ရောက်ပါက သည်းခံပါလေ၊ ကြံ့ခိုင်စွာရပ်တည်ပါလေ။ ဤသည် ဖွဲသတ္တိတရပ်ပင်။ ➢➢

اَلَمۡ تَرَوۡا اَنَّ اللّٰهَ سَخَّرَ لَكُمۡ مَّا فِى السَّمٰوٰتِ وَمَا فِى الۡاَرۡضِ وَاَسۡبَغَ عَلَيۡكُمۡ نِعَمَهٗ ظَاهِرَةً وَّبَاطِنَةً ‌ؕ وَمِنَ النَّاسِ مَنۡ يُّجَادِلُ فِى اللّٰهِ بِغَيۡرِ عِلۡمٍ وَّلَا هُدًى وَّلَا كِتٰبٍ مُّنِيۡرٍ ﴿۲۰﴾

၂၀။ အသင်တို့သည် မမြင်ခဲ့ကြလေသလော၊ စင်စစ်ဧကန် အလ္လာဟ်အရှင်မြတ်သည် အသင်တို့အကျိုးငှာ မိုးကောင်းကင်၌ရှိသည်တို့ကိုလည်းကောင်း၊ ပထဝီမြေ၌ရှိသည်တို့ကိုလည်းကောင်း၊ *အသုံးချနိုင်စေတော်မူ၏။* [၁] ထိုမှတပါး ထိုအရှင်မြတ်သည် *မိမိ၏ထင်ရှားသော ကျေးဇူးတော်များကိုလည်းကောင်း၊ မထင်ရှားသော ကျေးဇူးတော်များကိုလည်းကောင်း၊* [၂] အသင်တို့အပေါ်ဝယ် အပြည့်အစုံ ချပေးသနားတော်မူ၏။

➤➤ (၆) သား၊ လူများရှေ့တွင် မျက်နှာစူမထားပါနှင့်၊ သူတစ်ပါးအား အထင်မသေးပါနှင့် မောက်မာစွာ မဆက်ဆံပါနှင့်၊ ခင်မင်ရင်းနှီး လေးစားစွာ ဆက်ဆံပါလေ။

(၇) သား၊ ပထဝီမြေပေါ်မှာ မော်ကြွားစွာ လမ်းမလျှောက်ပါနှင့်၊ အလ္လာဟ်အရှင်မြတ်သည် မောက်မာမှု၊ မော်ကြွားမှုဟူသမျှကို နှစ်သက်တော်မမူ။

(၈) သား၊ သွားလာရာတွင် မမြန်လွန်းပါနှင့်၊ မဖြည်းလွန်းပါနှင့်၊ အလယ်အလတ် ဣန္ဒြေရရ သိက္ခာရှိရှိ သိမ်သိမ်မွေ့မွေ့ သွားလာပါလေ။

(၉) သား၊ ပြောဆိုရာတွင် မိမိ၏အသံကို နှိမ့်ချပါ။ အကြောင်းမဲ့ အော်ဟစ်၍ မပြောဆိုလေနှင့်။ အော်ကြီးဟစ်ကျယ် ပြောဆိုခြင်းသည် နှစ်မြို့ဖွယ်ရာမဟုတ်၊ အလွန် စက်ဆုပ်ရွံရှာဖွယ်ရာ ဖြစ်သည်။ မြည်း၏အသံကို ဆင်ခြင်ပါလေ။ မြည်း၏အသံသည် အသံများတွင် သူငါအများ အများဆုံး စက်ဆုပ်ရွံမုန်းသော အသံပင်ဖြစ်သည်။

ဤတွင် ပညာရှင်ကြီးလွတ်က်မာန်က မိမိ၏သားအား သွန်သင်ဆုံးမခဲ့သော စကားကြီး(၉)ခွန်း ပြီးဆုံးသည်။ ရှေ့တွင် အလ္လာဟ်အရှင်မြတ်သည် မိမိ၏တန်ခိုးတော်များနှင့် ကျေးဇူးတော်များကို ထုတ်ဖော်ပြီး 'တောင်ဟီဒ်'စသည့် အကြောင်းများကိုပင် ဆက်လက်မိန့်ကြား ထားတော်မူသည်။

**① ကမ္ဘာ့အိမ်ထောင်စုကြီး တခုလုံးသည် လူသား၏ အသုံးအဆောင်သာ။**

အလ္လာဟ်အရှင်မြတ်သည် ကမ္ဘာ့အိမ်ထောင်စုကြီး တစ်ခုလုံးကို လူသားတို့အားအကျိုးပြုသည့် လုပ်ငန်းများတွင် အသုံးပြုထားတော်မူသည်။ ဤကား အထင်အရှားပင်။ သို့ဖြစ်ရာ လူသားတို့သည် မိမိတို့ကိုယ်ကို အလ္လာဟ်အရှင်မြတ် အလိုတော်၌ အသုံးပြုထားကြရမည်သာ ဖြစ်သည်။

② ထင်ရှားသော ကျေးဇူးတော်များဟူသည် အာရုံဖြင့်သိမြင်နိုင်သော ကျေးဇူးတော်များကို ဆိုလိုသည်။ မထင်ရှားသော ကျေးဇူးတော်များဟူသည် အသိဉာဏ်နှင့်ယှဉ်၍ တွေးဆဆင်ခြင်သိရှိနိုင်သော ကျေးဇူးတော်များကို ဆိုလိုသည်။ သို့တည်းမဟုတ်၊ ထင်ရှားသော ကျေးဇူးတော်များဟူသည် ရုပ်လောကနှင့်ဆိုင်သော ကျေးဇူးတော်များကို ဆိုလိုသည်။ မထင်ရှားသော ကျေးဇူးတော်များဟူသည် နာမ်လောကနှင့်ဆိုင်သော ကျေးဇူးတော်များကိုဆိုလိုသည်။

သို့ရာတွင် လူတို့အနက် အချို့မှာမူကား မည်သည့်ပညာ သက်သေအထောက်အထားမျှလည်းကောင်း၊ မည်သည့် တရားလမ်းညွှန်မှုမျှလည်းကောင်း၊ မည်သည့် ထွန်းလင်းသောကျမ်းဂန်မျှလည်းကောင်း၊ မရှိပါဘဲလျှက် အလ္လာဟ်အရှင်မြတ်နှင့် ပတ်သက်၍ အငြင်းအခုံ ပြုလုပ်လေ့ရှိကြ၏။ [၁]

وَإِذَا قِيلَ لَهُمُ اتَّبِعُوا مَآ أَنزَلَ اللَّهُ قَالُوا بَلْ نَتَّبِعُ مَا وَجَدْنَا عَلَيْهِ ءَابَآءَنَآ ۚ أَوَلَوْ كَانَ الشَّيْطَٰنُ يَدْعُوهُمْ إِلَىٰ عَذَابِ السَّعِيرِ ﴿٢١﴾

၂၁။ ထိုမှတပါး ၎င်းတို့အား၊ အသင်တို့သည် အလ္လာဟ်အရှင်မြတ် ချပေးသနားတော်မူသည်ကို လိုက်နာကြလေကုန်ဟု ပြောကြားခဲ့သည်ရှိသော်၊ ၎င်းတို့က ထိုသို့အလျှင်းမဟုတ်၊ စင်စစ်မှာမူကား ကျွန်ုပ်တို့သည် မိမိတို့ အဘ၊ ဘိုး၊ ဘေးတို့ လိုက်နာခဲ့ကြသည်ကို တွေ့ရှိကြရသော လမ်းစဉ်ကိုသာ ကျွန်ုပ်တို့ လိုက်နာကြမည်ဟု ပြောဆိုဖြေကြားခဲ့ကြကုန်၏။ ထိုအဘ၊ ဘိုး၊ ဘေး တို့အား 'ရှိုင်တွာန်' မိစ္ဆာကောင်သည် ငရဲဘုံ၏ ပြစ်ဒဏ်ကို ဖိတ်ခေါ်လျက်ရှိငြားအံ့လည်း (၎င်းတို့သည် ထိုအဘ၊ ဘိုး၊ ဘေးတို့၏လမ်းစဉ်ကို လိုက်နာကြဦးမည်လော။)

وَمَن يُسْلِمْ وَجْهَهُۥٓ إِلَى اللَّهِ وَهُوَ مُحْسِنٌ فَقَدِ اسْتَمْسَكَ بِالْعُرْوَةِ الْوُثْقَىٰ ۗ وَإِلَى اللَّهِ عَٰقِبَةُ الْأُمُورِ ﴿٢٢﴾

၂၂။ စင်စစ်သော်ကား မည်သူမဆို မိမိကိုယ်ကို အလ္လာဟ်အရှင်မြတ် အထံတော်သို့ လုံးဝအပ်နှင်းလွှဲအပ်သည့်ပြင်၊ ထိုသူသည် ကောင်းမှုပြုသူလည်း ဖြစ်ပါမူ၊ မလွဲဧကန် ထိုသူသည် လွန်စွာခိုင်မြဲသော ကြိုးကွင်းကို ဆွဲကိုင်၍ ထားရှိပြီးဖြစ်၏။ စင်စစ် အမှုကိစ္စအလုံးစုံတို့၏ အဆုံးသတ်ခြင်းမှာ အလ္လာဟ်အရှင်မြတ် အထံတော်၌ပင်ဖြစ်၏။ [၂]

---

(၁) အလ္လာဟ်အရှင်မြတ်၏ တန်ခိုးတော်များနှင့် ကျေးဇူးတော်များကား ထင်ရှားလှ၏။ များပြားလှ၏။ သို့ပါလျက် အချို့လူသားများသည် ထိုအရှင်မြတ်နှင့် ပတ်သက်၍သော်လည်းကောင်း၊ ထိုအရှင်မြတ်၏ ဂုဏ်တော်များနှင့် ပတ်သက်၍သော်လည်းကောင်း၊ ထိုအရှင်မြတ်၏ ဒေသနာတော်များနှင့် ပတ်သက်၍ ➤➤

وَمَن كَفَرَ فَلَا يَحْزُنكَ كُفْرُهُۥٓ إِلَيْنَا مَرْجِعُهُمْ فَنُنَبِّئُهُم بِمَا عَمِلُوٓا۟ ۚ إِنَّ ٱللَّهَ عَلِيمٌۢ بِذَاتِ ٱلصُّدُورِ ﴿٢٣﴾

၂၃။ သို့ရာတွင် မည်သူမဆို သွေဖည်ငြင်းပယ်ခဲ့ပါမူ၊ ထိုသူ၏ သွေဖည်မှုသည် အသင့်အား ပူဆွေးစေခြင်း မဖြစ်စေရ။ ၎င်းတို့သည် ငါအရှင်မြတ်အထံတော်သို့သာလျှင် ပြန်လည် ရောက်ရှိကြရပေမည်။ ထိုအခါ ငါအရှင်မြတ်သည် ၎င်းတို့အား ၎င်းတို့ကျင့်မှုပြုလုပ်ခဲ့ကြသည်များကို သိစေတော်မူမည်။ စေကန်မလွဲ အလ္လာဟ်အရှင်မြတ်သည် စိတ်နှလုံးများအတွင်း၌ရှိသည်တို့ကို အကြွင်းမဲ့သိတော်မူသော အရှင်မြတ်ပင်ဖြစ်တော်မူ၏။

نُمَتِّعُهُمْ قَلِيلًا ثُمَّ نَضْطَرُّهُمْ إِلَىٰ عَذَابٍ غَلِيظٍ ﴿٢٤﴾

၂၄။ ငါအရှင်မြတ်သည် နေ့ရက်အနည်းငယ်မျှပင် ၎င်းတို့အား အကျိုးခံစားခွင့်ပေးတော်မူသည်။ ထို့နောက် ငါအရှင်မြတ်သည် ၎င်းတို့အား ပြင်းထန်လှစွာသော ပြစ်ဒဏ်သို့ အတင်းအကြပ်မောင်းနှင် ပို့ဆောင်တော်မူအံ့သတည်း။

وَلَئِن سَأَلْتَهُم مَّنْ خَلَقَ ٱلسَّمَـٰوَٰتِ وَٱلْأَرْضَ لَيَقُولُنَّ ٱللَّهُ ۚ

၂၅။ စင်စစ်သော်ကား အကယ်၍ အသင်သည် ထိုသူတို့အား မိုးကောင်းကင်များနှင့် ပထဝီမြေကို မည်သူဖန်ဆင်းခဲ့သနည်းဟု မေးမြန်းခဲ့ပါလျှင် မုချစေကန် ၎င်းတို့က အလ္လာဟ်အရှင်မြတ်ပင် (ဖန်ဆင်းတော်မူခဲ့သည်)ဟု ပြောဆိုကြမည်သာ။

---

➤➤ သော်လည်းကောင်း၊ အသိဉာဏ်အမြော်အမြင် တရားဓမ္မကျမ်းဂန်၊ ဓမ္မကွန် တစုံတရာမရှိပါပဲလျက် အငြင်းအခုံ ပြုကြပေသည်။ ဤသည်ကား မိဘရိုးရာထုံးတမ်းစဉ်လာကို ဖွတ်မိုတ်လိုက်နာမှု၏ အကျိုးပင်။

⑵ အကြင်သူတဦးသည် မိမိကိုယ်ကို အလ္လာဟ်အရှင်မြတ်အား လုံးဝလွှဲအပ်ပြီး စိတ်စေတနာဖြူစင်စွာဖြင့် ကောင်းမြတ်သော အကျင့်သီလများကို ဆည်းပူးပါက ထိုသူသည် အလွန်ခိုင်ခံ့သော ကြိုးကွင်းကို ဆုပ်ကိုင်ထားသူနှင့် အလားသဏ္ဌာန်တူသည်။ ထိုလူသည် ထိုကြိုးကွင်းကြီးကို ဆုပ်ကိုင်ထားသည်နှင့်အမျှ အောက်သို့ ပြုတ်မကျနိုင်သကဲ့သို့ အစွလာမ်တည်းဟူသော ကြိုးကွင်းကို ဆုပ်ကိုင်ထားသော ထိုမုစ်လင်မ်တစ်ဦးသည်လည်း အောက်သို့ပြုတ်မကျနိုင်ပေ။ ထို့ပြင်တဝကြိုးကွင်းကို ဆုပ်ကိုင်၍ အထက်သို့ တက်နိုင်သကဲ့သို့ မုစ်လင်မ်တစ်ဦးသည်လည်း အစ္စလာမ့်ကြိုးကွင်းကိုဆုပ်ကိုင်ကာ အလ္လာဟ်အရှင်မြတ်၏ ထံတော်ပါးသို့ပင် တက်ရောက်နိုင်လေသည်။

قُلِ الْحَمْدُ لِلّٰهِ ۚ بَلْ اَكْثَرُهُمْ لَا يَعْلَمُوْنَ ﴿٢٥﴾

(အို–နဗီတမန်တော်) အသင်သည် ပြောကြားပါလေ။ ချီးမွမ်းထောပနာ အပေါင်းတို့ကို အလ္လာဟ် အရှင်မြတ်သည်သာလျှင် ခံယူထိုက်တော်မူ၏။ သို့ရာတွင် ၎င်းတို့အနက် အများစုမှာမူကား မသိကြပေ။

لِلّٰهِ مَا فِى السَّمٰوٰتِ وَالْاَرْضِ ۗ اِنَّ اللّٰهَ هُوَ الْغَنِىُّ الْحَمِيْدُ ﴿٢٦﴾

၂၆။ မိုးကောင်းကင်များ၌ ရှိသမျှတို့သည်လည်းကောင်း၊ ပထဝီမြေ၌ ရှိသမျှတို့သည်လည်းကောင်း အလ္လာဟ်အရှင်မြတ် ပိုင်ဆိုင်တော်မူသော အရာချည်းသာဖြစ်ကုန်၏။ စင်စစ်ဧကန် အလ္လာဟ်အရှင်မြတ်သည်သာလျှင် လိုလားတောင့်တခြင်း ကင်းမဲ့တော်မူသော၊ ချီးမွမ်းခြင်းခံရတော်မူသော အရှင်ဖြစ်တော်မူပေသတည်း။

وَلَوْ اَنَّمَا فِى الْاَرْضِ مِنْ شَجَرَةٍ اَقْلَامٌ وَّالْبَحْرُ يَمُدُّهٗ مِنْۢ بَعْدِهٖ سَبْعَةُ اَبْحُرٍ مَّا نَفِدَتْ كَلِمٰتُ اللّٰهِ ۗ اِنَّ اللّٰهَ عَزِيْزٌ حَكِيْمٌ ﴿٢٧﴾

၂၇။ စင်စစ်သော်ကား၊ အကယ်၍ အမှန်ဧကန် ပထဝီမြေ၌ ရှိကုန်သော သစ်ပင် အသီးသီးတို့သည် ကလောင်များဖြစ်၍ သမုဒ္ဒရာပင်လယ်သည် (မင်ဖြစ်ပြီး၊ ယင်းပင်လယ် ကုန်ခန်းပြီးနောက်) သမုဒ္ဒရာ ပင်လယ် ခုနစ်ခုသည် ယင်း(ခန်းခြောက်ပြီးဖြစ်သော) ပင်လယ်ကို ထပ်မံ၍ ဖြည့်အုံငြားလည်း *အလ္လာဟ်အရှင်မြတ်၏ အာယတ်တော်များကား ကုန်ဆုံးမည် မဟုတ်ပေ။*[၁] မချွတ်မလွဲ အလ္လာဟ်အရှင်မြတ်သည် တန်ခိုးအာနုဘော်နှင့် ပြည့်စုံတော်မူသော၊ ဆင်ခြင်တုံတရားနှင့် ပြည့်စုံတော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူ၏။

---

(၁) အလ္လာဟ်အရှင်မြတ်၏ ဂုဏ်တော်များကား အနန္တောအနန္တတည်း။ ကမ္ဘာအဝှန်းရှိ သမုဒ္ဒရာများအပြင် အခြားသမုဒ္ဒရာခုနစ်စင်းရှိအုံ၊ ထိုသမုဒ္ဒရာများသည် မင်ရည်ဖြစ်အုံ၊ ကမ္ဘာအဝှန်းရှိ သစ်ပင်များသည် ကလောင်ဖြစ်အုံ၊ ကမ္ဘာအဝှန်းရှိ ရေးမှတ်သူများသည် အဆိုပါကလောင်များ၊ မင်ရည်များဖြင့် အလ္လာဟ်အရှင်မြတ်၏ ဂုဏ်တော်များကို ရေးမှတ်ကြပါကလည်း မင်ရည်များသည်သာ ကုန်သွားပေမည်၊ ကလောင်များသည်သာ တုံးသွားပေမည်၊ ရေးမှတ်သူများသာ သေဆုံးသွားကြပေမည်၊ သို့တစေလည်း အလ္လာဟ်အရှင်မြတ်၏ ဂုဏ်တော်များကား ကုန်ဆုံးသွားမည်မဟုတ်ပေ။ ထိုအရှင်မြတ်၏ ဂုဏ်တော်များကား အတိုင်းမသိ များပြားလှပါဘိတကား။

مَا خَلْقُكُمْ وَلَا بَعْثُكُمْ إِلَّا كَنَفْسٍ
وَّاحِدَةٍ ۗ إِنَّ اللَّهَ سَمِيعٌ بَصِيرٌ ﴿٢٨﴾

၂၈။ အသင်တို့အား ဖန်ဆင်းတော်မူခြင်းနှင့် အသင်တို့အား (သေပြီးနောက်တဖန်) ရှင်ပြန်ထစေတော်မူခြင်းသည် လူတယောက်(ကို ဖန်ဆင်းတော်မူခြင်း၊ သို့မဟုတ် လူတယောက်အား ရှင်ပြန်ထစေတော်မူခြင်း) ကဲ့သို့သာ ဖြစ်သည်။ အကယ်စင်စစ် အလ္လာဟ်အရှင်မြတ်သည် အလွန်တရာကြားတော်မူသော၊ အလွန်တရာမြင်တော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

أَلَمْ تَرَ أَنَّ اللَّهَ يُولِجُ اللَّيْلَ فِي
النَّهَارِ وَيُولِجُ النَّهَارَ فِي اللَّيْلِ
وَسَخَّرَ الشَّمْسَ وَالْقَمَرَ كُلٌّ
يَّجْرِي إِلَىٰ أَجَلٍ مُّسَمًّى
وَّأَنَّ اللَّهَ بِمَا تَعْمَلُونَ خَبِيرٌ ﴿٢٩﴾

၂၉။ အသင်သည် မသိမမြင်ခဲ့လေသလော၊ ဧကန်မုချ အလ္လာဟ်အရှင်မြတ်သည် ည(၏ အစိတ်အပိုင်းများ) ကို နေ့တွင်လည်းကောင်း၊ နေ့(၏ အစိတ်အပိုင်းများ) ကို ညတွင်လည်းကောင်း ဝင်စေတော်မူ၏။ ထို့ပြင်၊ ထိုအရှင်မြတ်သည် 'နေ' ကိုလည်းကောင်း၊ 'လ' ကိုလည်းကောင်း နိုင်နင်းစေတော်မူ၏။ ယင်း ('နေ' နှင့်'လ' ) အသီးသီးတို့သည် သတ်မှတ်ပြဋ္ဌာန်းအပ်သော အချိန်ကာလတိုင်အောင် သွားလာလှုပ်ရှားလျက်ပင် ရှိပေမည်။ ထိုမှတပါး အမှန်စင်စစ် အလ္လာဟ်အရှင်မြတ်သည် အသင်တို့ ပြုလုပ်ကြသည်တို့ကို အကြွင်းမဲ့ ကြားသိတော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူ၏။

ذَٰلِكَ بِأَنَّ اللَّهَ هُوَ الْحَقُّ وَأَنَّ
مَا يَدْعُونَ مِنْ دُونِهِ
الْبَاطِلُ ۙ وَأَنَّ اللَّهَ هُوَ الْعَلِيُّ
الْكَبِيرُ ﴿٣٠﴾

၃၀။ ဤသည်ကား အလ္လာဟ်အရှင်မြတ်သည်သာလျှင် အမှန်အကန်(ထာဝရ တည်ရှိနေတော်မူမည်) ဖြစ်သောကြောင့်လည်းကောင်း၊ အလ္လာဟ်အရှင်မြတ်မှတပါး၊ ထိုသူတို့ဟစ်ခေါ် တမ်းတကြကုန်သော အရာများသည် အမှားပင်(ဖြစ်၍ ပျက်စီးသွားကြမည်) သာ ဖြစ်သောကြောင့်လည်းကောင်း၊ အလ္လာဟ်အရှင်မြတ်သည်သာလျှင် လွန်စွာမြင့်မြတ်တော်မူသော၊ လွန်စွာကြီးကဲတော်မူသော အရှင် ဖြစ်တော်မူသောကြောင့်ပင် ဖြစ်ချေသတည်း။

٣١။ ကေန်စင်စစ် အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်နှင့် သမုဒ္ဒရာပင်လယ်၌ ရွက်သင်္ဘောများ သွားလာလှုပ်ရှားလျက် ရှိကြခြင်းမှာ ထိုအရှင်မြတ်သည် အသင်တို့အား မိမိ၏ အချို့သက်သေသာဓကများကို ပြသတော်မူရန်ဖြစ်ကြောင်း အသင်သည် မမြင်ခဲ့လေသလော။

أَلَمْ تَرَ أَنَّ الْفُلْكَ تَجْرِي فِي الْبَحْرِ بِنِعْمَتِ اللَّهِ لِيُرِيَكُم مِّنْ آيَاتِهِ ۚ إِنَّ فِي ذَٰلِكَ لَآيَاتٍ لِّكُلِّ صَبَّارٍ شَكُورٍ ﴿٣١﴾

ကေန်မလွဲ ဤသည်တွင် ကျေးဇူးသိတတ်သော သည်းခံခြင်းတရား ထားရှိသူတိုင်း၏အဖို့ အမှန်ပင် သက်သေသာဓကများ ရှိကြပေသည်။

٣၂။ စင်စစ် ၎င်းတို့အား လှိုင်းတံပိုးသည် အမိုးများပမာ ဖုံးလွှမ်းခဲ့သောအခါ၊ ၎င်းတို့သည် ကိုးကွယ်မှုကို အလ္လာဟ်အရှင်မြတ်အား ထိုအရှင်မြတ်အဖို့သာ စေတနာ သဒ္ဓါတရား ဖြူစင်စွာထားကာ ဟစ်ခေါ်တသကြကုန်၏။

وَإِذَا غَشِيَهُم مَّوْجٌ كَالظُّلَلِ دَعَوُا اللَّهَ مُخْلِصِينَ لَهُ الدِّينَ فَلَمَّا نَجَّاهُمْ إِلَى الْبَرِّ فَمِنْهُم مُّقْتَصِدٌ ۚ وَمَا يَجْحَدُ بِآيَاتِنَا إِلَّا كُلُّ خَتَّارٍ كَفُورٍ ﴿٣٢﴾

သို့ရာတွင် ထိုအရှင်မြတ်သည် ၎င်းတို့အား ကယ်တင်၍ ကုန်းမြေသို့ ပို့ဆောင်တော်မူသောအခါ ၎င်းတို့အနက်အချို့သည် မဇ္ဈိမပဋိပဒါစနစ်ကိုလိုက်၏။ စင်စစ်သော်ကား ငါအရှင်မြတ်၏ သက်သေလက္ခဏာများကိုကျေးဇူးကန်းသော ကတိသစ္စာ ဖောက်ဖျက်သူတိုင်းသာလျှင် ငြင်းပယ်လေ့ရှိကြပေသတည်း။

٣٣။ အို-လူသားအပေါင်းတို့ အသင်တို့သည် မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်ကို ကြောက်ရွံ့ကြလေကုန်။ ထိုမှတပါး အသင်တို့သည် မည်သည့် ဖခင်တဦးတယောက်မျှပင် မိမိသားအဖို့ အသုံးမဝင်သည့်အပြင်၊ မည်သည့် သားတဦးတယောက်မျှသည်လည်း မိမိဖခင်အဖို့ လုံးဝအသုံးဝင်မည် မဟုတ်

يَا أَيُّهَا النَّاسُ اتَّقُوا رَبَّكُمْ وَاخْشَوْا يَوْمًا لَّا يَجْزِي وَالِدٌ عَن وَلَدِهِ وَلَا مَوْلُودٌ هُوَ جَازٍ عَن وَالِدِهِ شَيْئًا ۚ

إِنَّ وَعْدَ اللَّهِ حَقٌّ فَلَا تَغُرَّنَّكُمُ الْحَيَوٰةُ الدُّنْيَا وَلَا يَغُرَّنَّكُم بِاللَّهِ الْغَرُورُ ﴿٣٣﴾

သော နေ့ကို စိုးရိမ်ကြလေကုန်။ [၁] ဧကန်စင်စစ် အလ္လာဟ်အရှင်မြတ်၏ကတိသည် မှန်ကန်သောကတိ ပင်ဖြစ်၏။ သို့ဖြစ်ပေရာ လောကီဘဝ၌ အသက်ရှင်ခြင်းသည် အသင်တို့အား လှည့်ဖြားခြင်း မပြုစေရ၊ ထိုနည်းတူစွာ၊ ထိုလှည့်စားသူ (ရှိုင်တွာန်)သည်လည်း အသင်တို့အား အလ္လာဟ်အရှင်မြတ်နှင့် ပတ်သက်၍ လှည့်ဖြားခြင်း မပြုစေရ။

إِنَّ اللَّهَ عِندَهُ عِلْمُ السَّاعَةِ وَيُنَزِّلُ الْغَيْثَ وَيَعْلَمُ مَا فِي الْأَرْحَامِ

၃၄။ ဧကန်မလွဲ ရှင်ပြန်ထမည့်အချိန်ကို သိမြင်ခြင်းသည် အလ္လာဟ်အရှင်မြတ်၌ သာရှိပေသည်။ ၎င်းပြင် ထိုအရှင်မြတ်သည်သာလျှင် မိုးရေကို ချပေးတော်မူ၏။ ထိုမှတပါး (မိခင်များ၏) သားအိမ်များ၌ မည်သည့်အရာ ရှိသည်ကိုလည်း ထိုအရှင်မြတ်သာလျှင် သိတော်မူ၏။

---

(၁) **သားသမီးနှင့် မိဘများသည်ပင် တစ်ဦးကိုတစ်ဦး မကယ်တင်နိုင်မည့်နေ့၊**

သမုဒ္ဒရာပင်လယ်ပြင်တွင် ရေလှိုင်းမိကြသည့်အခါ ခရီးသည်များသည် အလွန်ထိတ်လန့်ကာ လူတိုင်းလူတိုင်းသည် မိမိလွတ်မြောက်ရန် အသီးသီးကြိုးစားကြသည်။ သို့တစေလည်း ထိုအချိန်မျိုးမှာပင်လျှင် သားသမီးသံယောဇဉ် ကြီးမားသောမိဘများသည် မိမိတို့၏သားသမီးများကို မမေ့ကြပေ။ ထို့အတူ မိဘသံယောဇဉ်ကြီးမားသော သားသမီးများသည်လည်း မိမိတို့၏မိဘများကို မမေ့ကြပေ။ တစ်ဦးကိုတစ်ဦး ကယ်တင်ရန် ကြိုးစားကြပေသည်။ အချို့သော မိဘများသည် မိမိတို့ကိုယ်တိုင် အသက်စွန့်ကာ မိမိ၏ရင်သွေးများကို ကယ်တင်ကြပေသည်။

သို့ရာတွင်ကိယာမတ်နေ့တွင်ကား သံယောဇဉ်များပင် အပြတ်ကြီးပြတ်သွားပေမည်။ သားသမီးများသည်လည်း မိဘများကိုပင် ကယ်တင်ကြမည်မဟုတ်၊ မိဘများသည်လည်း သားသမီးများအား ကယ်တင်ကြမည်မဟုတ်။ ကယ်တင်လိုပါကလည်း အကျိုးရှိမည်မဟုတ်၊ လူတိုင်းလူတိုင်းသည် မိမိကိုယ်ကိုမိမိ လွတ်မြောက်ရန် သောကများလျက်ရှိပေမည်။ ကြည့်-ကုရ်အာန်(၈၀း၃၃-၃၇)

ယနေ့ရေလှိုင်းဘေးမှ လွတ်မြောက်ခဲ့သော်လည်း နက်ဖြန်ကိယာမတ်နေ့၏ ဘေးမှကား အသို့လျှင် လွတ်မြောက်နိုင်အံ့နည်း။ ကိယာမတ်သည် မုချဖြစ်မည်၊ အလ္လာဟ်အရှင်မြတ်၏ ကတိတော်သည်မှန်သည်၊ သို့ဖြစ်ရာ လူသားသည် ထိုနေ့ကိုမျက်မှောက်ပြုကာ အလ္လာဟ်အရှင်မြတ်၏ ပြစ်ဒဏ်မှလွတ်မြောက်နိုင်ရန် ယခုကပင် ကြိုတင်စီစဉ်ရပေမည်။ လောကီဘဝတွင် သာယာ၍မနေရာ၊ လောကီရေးရာများတွင် နစ်မွန်း၍မနေရာ၊ ရှိုင်တွာန်၏ဖြားယောင်းမှုတွင် မသက်ရောက်ရာ။

وَمَا تَدْرِىْ نَفْسٌ مَّاذَا تَكْسِبُ غَدًا ۗ وَمَا تَدْرِىْ نَفْسٌۢ بِاَىِّ اَرْضٍ تَمُوْتُ ۗ اِنَّ اللّٰهَ عَلِيْمٌ خَبِيْرٌ ﴿٣٤﴾

စင်စစ်သော်ကား မည်သူတဦးတယောက်မျှပင် ၎င်းမှာ နက်ဖြန်မည်သည့်အမှုကိစ္စ ပြုလုပ်မည်ကို မသိနိုင်ပေ။ ထိုနည်းတူစွာ မည်သူတဦးတယောက်မျှပင် ၎င်းမှာ မည်သည့်မြေ (အရပ်ဒေသ)၌ သေဆုံးမည်ကို မသိနိုင်ပေ။ မလွဲဧကန် အလ္လာဟ်အရှင်မြတ်သာလျှင် အရာခပ်သိမ်းတို့ကို အကြွင်းမဲ့သိတော်မူသောအရှင်၊ အရာခပ်သိမ်းတို့ကို အကြွင်းမဲ့ကြားသိတော်မူသော အရှင် ဖြစ်တော်မူပေသတည်း။ ၁

---

① ဤအာယတ်တော်တွင် အချက်ငါးချက်ပါရှိသည်။ ဤသည့်ငါးချက်ကို ဟဒီးဆ်တော်တွင် **'မဖာဟီဟုလ် ဃိုက်ဗ်' မျက်ကွယ်၏သော့များ** ဟု သုံးနှုန်းထားတော်မူသည်။ ဤသည်တို့ကို အလ္လာဟ်အရှင်မြတ်သာလျှင် ပိုင်နိုင်တိကျအပြည့်အဝ သိတော်မူသည်။ ထိုအရှင်မြတ်မှတစ်ပါး အခြားမည်သူမျှ အတိအကျမသိချေ။
(၁) ကိယာမတ်သည် မုချဖြစ်မည်။ သို့ရာတွင် အဘယ်နေ့ အဘယ်အချိန်တွင် ဖြစ်မည်ကို အလ္လာဟ်အရှင်မြတ်မှ တစ်ပါး အခြားမည်သူမျှ မသိချေ။
(၂) မိုးရည်ကို အလ္လာဟ်အရှင်မြတ် ရွာသွန်းချပေးတော်မူသည်။ မည်သည့်အချိန်အခါတွင် မည်သည့်နေရာ၌ မည်ရွေ့မည်မျှ မိုးရွာမည်ကိုလည်း အလ္လာဟ်အရှင်မြတ်မှ တစ်ပါး အခြားမည်သူမျှ အတိအကျမသိချေ။
(၃) ကိုယ်ဝန်ဆောင် အမျိုးသမီးများ၏ သားအိမ်များတွင် သားယောကျ်ားကလေးဖြစ်သည်၊ သမီး မိန်းကလေး ဖြစ်သည်၊ မွေးဖွားလာပြီးနောက် ထိုကလေး၏ အသက်သည်မည်မျှရှိမည်၊ စားဝတ်နေရေး အဆင်ပြေမည်၊ အဆင်မပြေမည်၊ အကြောင်းလှမည်၊ အကြောင်းမလှမည် — စသည်များကို အလ္လာဟ်အရှင်မြတ်မှတစ်ပါး အခြားမည်သူမျှမသိချေ။
(၄) မည်သူမျှ နက်ဖြန်မည်သည့်အရာ ပြုလုပ်မည်ကို မိမိပင်အတိအကျမသိ။
(၅) မည်သူမျှ မည်သည့်ဌာနတွင်သေမည်ကို မိမိပင်အတိအကျမသိ။

အလ္လာဟ်အရှင်မြတ်မှသည် 'ဃိုက်ဗ်' မျက်ကွယ်၌ရှိသော အရာခပ်သိမ်းကုန်တို့ကို လည်းကောင်း၊ 'ရှဟာဒတ်' မျက်မှောက်၌ရှိသော အရာခပ်သိမ်းကုန်တို့ကိုလည်းကောင်း၊ အကြွင်းမဲ့သိတော်မူသည်။ ဤအာယတ်တော်တွင် ငါးခုသောအရာကို အထူးတလည် ထုတ်ဖော်မိန့်ဆိုထားတော်မူခြင်းမှာ တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)အား မေးမြန်းသူတစ်ဦးက ဤသည့်အရာငါးခုနှင့် စပ်လျဉ်း၍ မေးမြန်းခဲ့သည့်အတွက်သော် လည်းကောင်း၊ အများအားဖြင့် လူများသည် ဤသည့်ငါးချက်ကို အထူးသိလိုကြသည့်အတွက် သော်လည်းကောင်း၊ ဤသည့်အချက်ငါးချက်ကိုသာ ထုတ်ဖော်မိန့် ဆိုထားတော်မူခြင်းဖြစ်သည်။

သာဝကကြီး အစ်ဗ်နုအုမရ် (ရသွေ့ ယလ္လာဟုအန်ဟု)ထံမှ တဆင့်ကြားသိရ၏။ တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လာမ်)က မိန့်ကြားတော်မူခဲ့သည်မှာ ဃိုက်ဗ်၏ သော့များသည် ငါးခုရှိသည်၊ ထိုအရာများကို အလ္လာဟ်အရှင်မြတ်မှတစ်ပါး အခြားမည်သူမျှ မသိချေ။ ထို့နောက် တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် ကုရ်အာန်ကျမ်းမြတ်လာ အာယတ်တော် (၃၁း၃၄)ကို ရွတ်ဖတ်တော်မူခဲ့လေသည်။
(အစ်ဗ်နုကဆီရ်၊ အတွဲ-၃၊ စ-၄၅၄)။

## ပျပ်ဝပ်ဦးချခြင်းကဏ္ဍ

سُوْرَةُ السَّجْدَةِ

ဤကဏ္ဍသည် "စဂျ်ဒဟ် ပျပ်ဝပ်ဦးချခြင်း ကဏ္ဍ" မည်၏။
မက္ကာမြို့တော်၌ ကျရောက်ခဲ့၏။
ဤကဏ္ဍတွင် အာယတ်တော် (၃၀)ပါး ရုကူအ်အပိုဒ်(၃)ပိုဒ် အသီးသီးပါရှိ၏။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ

မပြတ်မစဲ သနားကြင်နာ ညှာတာတော်မူသော
အနန္တကရုဏာရှင် ဖြစ်တော်မူသော
အလ္လာဟ်အရှင်မြတ်၏နာမံတော်ဖြင့် အစပြုပါ၏။

الٓمّٓ ۝١

၁။ အလိဖ်၊ လာမ်၊ မီမ်။

تَنْزِيْلُ الْكِتٰبِ لَا رَيْبَ فِيْهِ مِنْ رَّبِّ الْعٰلَمِيْنَ ۝٢

၂။ (ဤသည်) ချပေးတော်မူသောကျမ်းဂန်ဖြစ်၏။ ဤကျမ်းဂန်နှင့် စပ်လျဉ်း၍ ဒွိဟသံသယဟူ၍ အလျှင်း မရှိပြီ။ (ဤသည်) စကြာဝဠာခပ်သိမ်းတို့ကို ဖန်ဆင်း မွေးမြူတော်မူသော အရှင်မြတ်ထံတော်မှဖြစ်သည်။

**(တနည်း)**

ဤကျမ်းဂန်သည် စကြာဝဠာ ခပ်သိမ်းတို့ကို ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ် အထံတော်မှ ချပေးတော်မူခြင်းဖြစ်၏။ ယင်းကျမ်းဂန်နှင့်စပ်လျဉ်း၍ ဒွိဟသံသယ ဟူ၍ အလျှင်းမရှိပြီ။

اَمْ يَقُوْلُوْنَ افْتَرٰىهُ ۚ بَلْ هُوَ الْحَقُّ مِنْ رَّبِّكَ لِتُنْذِرَ قَوْمًا مَّآ اَتٰىهُمْ مِّنْ نَّذِيْرٍ مِّنْ قَبْلِكَ لَعَلَّهُمْ يَهْتَدُوْنَ ۝٣

၃။ ၎င်းတို့က တမန်တော်မြတ်သည် ဤကျမ်း တော်မြတ်ကို ကြံစည်၊ ဖန်တီး(စီကုံးရေးသား)ခဲ့သည် ဟု ဆိုကြလေသလော။ ထိုသို့ အလျှင်းမဟုတ် စင်စစ် မှာကား ယင်းကျမ်းဂန်သည် အသင့်အလျင် သတိပေး နှိုးဆော်သူတဦးတယောက်မျှ လာရောက်ခဲ့ခြင်း မရှိ သေးသော အမျိုးသားတို့အား ၎င်းတို့တရားလမ်းမှန် ရရှိကြအံ့သောငှာ အသင် သတိပေးနှိုးဆော်ရန် အသင့် အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်အထံ

တော်မှ (ချပေးသနားတော်မူသော မှန်ကန်သောကျမ်းဂန်ပင်) ဖြစ်ပေသတည်း။ [၁]

اَللّٰهُ الَّذِىْ خَلَقَ السَّمٰوٰتِ وَالْاَرْضَ وَمَا بَيْنَهُمَا فِىْ سِتَّةِ اَيَّامٍ ثُمَّ اسْتَوٰى عَلَى الْعَرْشِ ؕ مَا لَكُمْ مِّنْ دُوْنِهٖ مِنْ وَّلِىٍّ وَّلَا شَفِيْعٍ ؕ اَفَلَا تَتَذَكَّرُوْنَ ④

၄။ အလ္လာဟ်အရှင်မြတ်ပင် မိုးကောင်းကင်များကိုလည်းကောင်း၊ ပထဝီမြေကိုလည်းကောင်း၊ ယင်းမိုးကောင်းကင်များနှင့် ပထဝီမြေ၏အကြား၌ ရှိသမျှတို့ကိုလည်းကောင်း၊ ခြောက်ရက်တွင် ဖန်ဆင်းတော်မူပြီးနောက် "အရ်ရှ်" ပလ္လင်တော်ထက်ဝယ် စံမြန်းတော်မူခဲ့၏။ အသင်တို့အဖို့ ထိုအရှင်မြတ်အပြင် ကူညီစောင်မမည့်သူ၊ ကြားဝင် အသနားခံပေးမည့်သူ ဟူ၍လည်း တဦးတယောက်မျှပင် မရှိပြီ။ သို့ပါလျက် အသင်တို့ သတိမမူ နားမလည်ကြလေသလော။

يُدَبِّرُ الْاَمْرَ مِنَ السَّمَآءِ اِلَى الْاَرْضِ ثُمَّ يَعْرُجُ اِلَيْهِ فِىْ يَوْمٍ كَانَ مِقْدَارُهٗۤ اَلْفَ سَنَةٍ مِّمَّا تَعُدُّوْنَ ⑤

၅။ ထိုအရှင်မြတ်သည် မိုးကောင်းကင်မှ ပထဝီမြေအထိ *အမှုကိစ္စအရပ်ရပ်တို့ကို စီမံခန့်ခွဲတော်မူ၏။* [၂] ထို့နောက် ယင်းအမှုကိစ္စတို့မှာ အသင်တို့ရေတွက်ကြကုန်သော အရေအတွက်ဖြင့် *အနှစ်တထောင်အတိုင်းအတာရှိသော နေ့တနေ့တွင်* [၃] *ထိုအရှင်မြတ် အထံတော်သို့ တက်သွားပေမည်။* [၄]

---

(၁) "အကြင်သူများအား အသင်သတိပေးရန်ဖြစ်သည်။ ၎င်းတို့ထံသို့ အသင့်အလျင် သတိပေးနှိုးဆော်သူ တဦးတယောက်မျှ မလာခဲ့ဘူးချေ။" သတိပေးနှိုးဆော်သူ တဦးတစ်ယောက်မျှ မလာရောက်ခဲ့ဘူးသော ထိုအမျိုးသားများကား မည်သူများနည်း။

အဆိုတရပ်အရ အဆိုပါအမျိုးသားများသည် အကြင်အမျိုးသားများပင် ဖြစ်ကြသည်။ ၎င်းတို့သည် တမန်တော် အီဗ်ရာဟီမ်(အလိုင်ဟစ္စလ္လမ်)နှင့် တမန်တော် အစ္စမာအီလ်(အလိုင်ဟစ္စလ္လမ်)၏ သာသနာကိုစွန့်ပြီးနောက် အာရေဗျတိုင်းပြည်တွင် လာရောက်နေထိုင်ကာ ကုဖ်ရ်၊ရှရစ်က် အမှုများတွင် နစ်မွန်းသွားခဲ့ကြလေသည်။ အေမာမ်ရာဇီ၏ အဆိုမှာလည်း ဤအတိုင်းပင် ဖြစ်သည်။

အခြားအဆိုတစ်ရပ်အရ အဆိုပါအမျိုးသားများသည် တမန်တော်အီစာ(အလိုင်ဟစ္စလာမ်)နှင့် တမန်တော်မြတ် မုဟမ္မဒ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)၏စပ်ကြားတွင် တမန်တော်တစ်ပါးမျှ မပွင့်ခဲ့ဘူးသည့် စပ်ကြားခေတ်ရှိ အရပ်အမျိုးသားများကို ဆိုလိုသည်။

(၂) စကြာဝဠာအဝှန်းရှိ အရာခပ်သိမ်းကုန်တို့ကို ကြီးသည်ဖြစ်စေ၊ ငယ်သည်ဖြစ်စေ၊ ပြုစုပျိုးထောင်မှု၊ ➢➢

၆။ ထိုအရှင်မြတ်သည်ပင် ဖုံးကွယ်လျက်ရှိသည်တို့ကိုလည်းကောင်း၊ ထင်ရှားစွာရှိသည်တို့ကိုလည်းကောင်း၊ သိရှိတော်မူသော၊ တန်ခိုးအာနုဘော်နှင့် ပြည့်စုံတော်မူသော၊ အလွန်တရာသနားကြင်နာတော်မူသော အရှင် ဖြစ်တော်မူပေသတည်း။

ذٰلِكَ عٰلِمُ الْغَيْبِ وَالشَّهَادَةِ الْعَزِيْزُ الرَّحِيْمُ ۙ⑥

၇။ အကြင် အရှင်မြတ်သည် မိမိဖန်ဆင်းတော်မူခဲ့သောအရာဝတ္ထုတိုင်းကို *ကောင်းမွန်စွာ ပြုလုပ်ဖန်ဆင်းတော်မူခဲ့၏။* ၁ ၎င်းပြင် ထိုအရှင်မြတ်သည် လူသားအား ဖန်ဆင်းခြင်းကို ရွှံ့ညွန်ဖြင့်အစပြုတော်မူခဲ့၏။

الَّذِيْٓ اَحْسَنَ كُلَّ شَيْءٍ خَلَقَهٗ وَبَدَاَ خَلْقَ الْاِنْسَانِ مِنْ طِيْنٍ ۚ⑦

၈။ ထို့နောက် ထိုအရှင်မြတ်သည် ထိုလူသား၏ အဆက်အနွယ်တို့ကို ညှစ်ထုတ်ထားသော အဖိုးမတန်သော ရေဖြင့် ပြုလုပ်ဖန်ဆင်းတော်မူခဲ့၏။

ثُمَّ جَعَلَ نَسْلَهٗ مِنْ سُلٰلَةٍ مِّنْ مَّآءٍ مَّهِيْنٍ ۚ⑧

၉။ ထို့နောက် ထိုအရှင်မြတ်သည် ၎င်းအား နေထားကျနစွာ ပြုလုပ်တော်မူ၍ ၎င်း(၏ ခန္ဓာကိုယ်အတွင်း)၌ မိမိအထံတော်မှ အသက်ဇီဝိန်ကို မှုတ်သွင်းတော်မူခဲ့၏။

ثُمَّ سَوّٰىهُ وَنَفَخَ فِيْهِ مِنْ رُّوْحِهٖ

➤➤ စီမံခန့်ခွဲမှု၊ အုပ်ချုပ်မှုအစုစုတို့သည် အလ္လာဟ်အရှင်မြတ်၏ လက်တော်တွင်း၌သာရှိပေသည်။ ထိုအရှင်မြတ်သည် စကြာဝဠာအဝှန်းကို တစ်ခါဖန်ဆင်းတော်မူပြီးနောက် ဘေးမဲ့ လျစ်လျူပြုထားတော်မူသည် မဟုတ်ပေ။ ထိုအရှင်မြတ်သည် အရာခပ်သိမ်းတို့ကို ကြီးကြပ်တော်မူလျက်၊ စီမံခန့်ခွဲတော်မူလျက်၊ ခြယ်လှယ်တော်မူလျက် ရှိတော်မူပေသည်။

(၃) ဤအာယတ်တော်တွင်ပါရှိသော (ဖီယောင်မင်န်) "တနေ့တွင်" ဟူသည် ကိယာမတ်နေ့ကိုပင် ဆိုလိုသည်။ ထိုနေ့တွင် စီမံခန့်ခွဲမှုအစုစု၊ အပြုအမူ ဟူသမျှတို့သည် အလ္လာဟ်အရှင်မြတ်၏ ရှေ့မှောက်သို့ ရောက်လာပေမည်။ ကိယာမတ်နေ့သည့် ပြင်းထန်လှသည့်အတွက်၊ ကြောက်ရွံ့ဖွယ်ကောင်းလှသည့်အတွက် အချို့လူများအဖို့ နှစ်ပေါင်းတထောင်မက နှစ်ပေါင်းငါးသောင်းတမျှ ရှည်လျားနေသည်ဟူ၍ပင် ထင်မှတ်ရပေမည်။ (မာဂျိဒီ၊ထာနဝီ)

(၄) ထို့နောက် ကမ္ဘာသက်တမ်း ကုန်ဆုံးသွားသည့် တနေ့တွင် (ဝါ)ကိယာမတ်နေ့တွင် ထိုသည့် စီမံခန့်ခွဲမှုအစုစုတို့သည် အရှင်မြတ် ထံတော်ပါးသို့ ပြန်လည်ရောက်ရှိသွားပေမည်။

(၁) အလ္လာဟ်အရှင်မြတ် ဖန်ဆင်းထားတော်မူသမျှသော အရာအားလုံးတို့သည် သူ့နေရာနှင့်သူ သူ၏ ရည်ရွယ်ချက်နှင့်သူ၊ ပုံပန်းသဏ္ဌာန်အနေအထား၊ အချိုးအစား အဆင်ပြေလှသည်သာ ဖြစ်သည်။

وَجَعَلَ لَكُمُ السَّمْعَ وَالْأَبْصَارَ وَالْأَفْـِٕدَةَ ۗ قَلِيلًا مَّا تَشْكُرُونَ ⑨

ထိုမှတပါး ထိုအရှင်မြတ်သည် အသင်တို့အဖို့ နားကိုလည်းကောင်း၊ မျက်စိများကိုလည်းကောင်း၊ စိတ်နှလုံးများကိုလည်းကောင်း၊ ပြုလုပ်ပေးသနားတော်မူခဲ့၏။ (သို့ပါလျက်) အသင်တို့သည် အနည်းငယ်သာလျှင် ကျေးဇူးတင်ကြကုန်သတည်း။ [၁]

وَقَالُوٓا۟ أَءِذَا ضَلَلْنَا فِى الْأَرْضِ أَءِنَّا لَفِى خَلْقٍ جَدِيدٍ ۚ بَلْ هُم بِلِقَآءِ رَبِّهِمْ كَٰفِرُونَ ⑩

၁၀။ စင်စစ် ၎င်းတို့က "အသို့ပါနည်း၊ ကျွန်ုပ်တို့သည် မြေထဲ၌ ဆွေးမြည့်ပျောက်ပျက် သွားခဲ့ကြသောအခါ အသစ်ပြန်၍ ဖန်ဆင်းခြင်းကို ခံကြရဦးမည်လော" ဟုဆိုကြကုန်၏။ စင်စစ်မှာမူကား ၎င်းတို့သည် မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်နှင့် တွေ့ဆုံမှုကိုပင် ငြင်းပယ်သူများ ဖြစ်ကြကုန်၏။

قُلْ يَتَوَفَّىٰكُم مَّلَكُ الْمَوْتِ الَّذِى وُكِّلَ بِكُمْ ثُمَّ إِلَىٰ رَبِّكُمْ تُرْجَعُونَ ⑪

၁၁။ (အို-နဗီတမန်တော်) အသင်သည် ပြောကြားပါလေ။ (အချင်းတို့၊) အသင်တို့နှင့်ပတ်သက်၍ ခန့်အပ်ထားခြင်းခံရလေသော သေမင်းတမန်သည် အသင်တို့၏အသက်ဇီဝိန်ကို နှုတ်သိမ်းလေသည်။ ထို့နောက် အသင်တို့သည် မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်ထံတော်သို့ပင် ပြန်ရောက်စေခြင်းကို ခံကြရကုန်အံ့သတည်း။

---

(၁) <u>နား၊ မျက်စိ၊ နှလုံး၊</u>

အလ္လာဟ်အရှင်မြတ်သည် လူသားတို့၏ ဖခင်ကြီးအာဒမ်အား မြေဖြင့်ဖန်ဆင်းတော်မူခဲ့၏။ ထို့နောက် ဖခင်ကြီးအာဒမ်၏ မျိုးနွယ် (လူ့အဆက်)ကို ရေဖြင့်ဖန်ဆင်းတော်မူ၏။ လူသားအဖို့ အရာရာကို ကြားနာ၊ရှုမြင်၊ ဆင်ခြင်နိုင်ရန်အတွက် နား၊မျက်စိနှင့် နှလုံးများကို ဖန်ဆင်းပေးထားတော်မူ၏။

လူသားသည် နားဖြင့် အလ္လာဟ်အရှင်မြတ်၏ ကျမ်းဂန်လာဒေသနာတော်များကို ကြားနာရမည်။ မျက်စိဖြင့် သဘာဝသက်သေလက္ခဏာတော်များကို ရှုမြင်ရမည်။ ထို့နောက် မိမိကြားနာ ရှုမြင်ထားသည့် အချက်များကို စိတ်နှလုံးဖြင့် တိကျမှန်ကန်စွာ စဉ်းစားဆင်ခြင်မြော်မြင်ရမည်။ နားလည်သဘောပေါက်ရမည်။ ဝေဖန်ပိုင်းခြား ဆုံးဖြတ်ရမည်။ လိုက်နာကျင့်သုံးရမည်။ အလ္လာဟ်အရှင်မြတ်အား ကျေးဇူးတင်ရမည်။

وَلَوْ تَرَىٰٓ إِذِ ٱلْمُجْرِمُونَ نَاكِسُوا۟ رُءُوسِهِمْ عِندَ رَبِّهِمْ رَبَّنَآ أَبْصَرْنَا وَسَمِعْنَا فَٱرْجِعْنَا نَعْمَلْ صَٰلِحًا إِنَّا مُوقِنُونَ ﴿١٢﴾

၁၂။ အကယ်၍ အသင်တွေ့မြင်ပါလျှင် ထူးဆန်းစွာ တွေ့မြင်ရပေမည်။ အကြင်အခါဝယ် အပြစ်ရှိသူတို့သည် (လွန်စွာ ရှက်ကြောက်၍) မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်၏ ရှေ့တော်မှောက်တွင် မိမိတို့၏ဦးခေါင်းများကို စိုက်ချလျက် (ရပ်ကြကာ) "အို-ကျွန်တော်မျိုးတို့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ် (ယခုသော်)ကျွန်တော်မျိုးတို့သည် မြင်လည်း မြင်ကြပါပြီ၊ ကြားလည်း ကြားကြပါပြီ။ သို့ဖြစ်ပါ၍ အရှင်မြတ်သည် ကျွန်တော်မျိုးတို့အား (ကမ္ဘာလောကသို့) ပြန်၍ ပို့ပေးတော်မူပါ။ (ယခုတကြိမ်သော်ကား) ကျွန်တော်မျိုးတို့သည် ကောင်းမြတ်သောအကျင့်သီလကို ကျင့်မူဆောက်တည်ကြပါတော့မည်။ (ယခုသော်) ကျွန်တော်မျိုးတို့သည် ဧကန်မလွဲ ကောင်းစွာ ယုံကြည်သူများပင် ဖြစ်ကြပါပြီ" (ဟု လျှောက်ထားအသနားခံကြပေမည်၊)

وَلَوْ شِئْنَا لَءَاتَيْنَا كُلَّ نَفْسٍ هُدَىٰهَا وَلَٰكِنْ حَقَّ ٱلْقَوْلُ مِنِّى لَأَمْلَأَنَّ جَهَنَّمَ مِنَ ٱلْجِنَّةِ وَٱلنَّاسِ أَجْمَعِينَ ﴿١٣﴾

၁၃။ စင်စစ်သော်ကား အကယ်၍သာ ငါအရှင်မြတ်သည် အလိုရှိတော်မူခဲ့ပါလျှင် လူတိုင်းလူတိုင်းအား ၎င်းတို့၏ တရားလမ်းမှန်ကို ပေးတော်မူခဲ့မည်ဖြစ်၏။ သို့ရာတွင် မုချဧကန် ငါအရှင်မြတ်သည် ဂျင်န်သတ္တဝါများဖြင့်လည်းကောင်း၊ လူသတ္တဝါများဖြင့်လည်းကောင်း၊ တပြိုင်နက်တည်း "ဂျဟန္နမ်" ငရဲဘုံကို ဖြည့်တော်မူမည်ဟူသောအမိန့်တော်သည် ငါအရှင်မြတ်အထံတော်မှ အတည်ပြုပြီးဖြစ်၏။ ၁

(၁) ဤအကြောင်း ကုရ်အာန် (၃၈း၇၁မှ၈၅)တွင် လာရှိဦးမည်။

ဤအာယတ်တော်နှင့်အနက်တူ အာယတ်တော်များသည် ကုရ်အာန် (၁၁း၁၁၈နှင့်၁၁၉) တွင်လည်း ပါရှိခဲ့ချေပြီ။ သက်ဆိုင်ရာ အဖွင့်များကိုလည်း ရေးသားခဲ့ချေပြီ။ ပြန်လည်ရှုပါကုန်။

فَذُوقُوا بِمَا نَسِيتُمْ لِقَاءَ يَوْمِكُمْ هَٰذَا إِنَّا نَسِينَاكُمْ وَذُوقُوا عَذَابَ الْخُلْدِ بِمَا كُنتُمْ تَعْمَلُونَ ﴿١٤﴾

၁၄။ (သို့ဖြစ်ပေရာ ၎င်းတို့သည် "ကိယာမတ်" ရှင်ပြန်ထမည့်နေ့တွင် ဤသို့ပြောဆိုခြင်းကို ခံကြရပေမည်။) "ယခုသော် အသင်တို့သည် မိမိတို့၏ ဤနေ့ဤရက်နှင့် တွေ့ဆုံကြရမည်ကို မေ့ပျောက်ခဲ့ခြင်း၏ အရသာကို မြည်းစမ်းကြကုန်လော့။ ငါ အရှင်မြတ်သည်လည်း အသင်တို့အား မေ့ထားတော်မူပြီ။ ၎င်းပြင် အသင်တို့သည် မိမိတို့ကျင့်မူလျက်ရှိခဲ့ကြကုန်သော အကျင့်အမူများကြောင့် ထာဝရပြစ်ဒဏ်၏အရသာကို (မြိန်ရှက်စွာ) မြည်းစမ်းကြကုန်လော့။

إِنَّمَا يُؤْمِنُ بِآيَاتِنَا الَّذِينَ إِذَا ذُكِّرُوا بِهَا خَرُّوا سُجَّدًا وَسَبَّحُوا بِحَمْدِ رَبِّهِمْ وَهُمْ لَا يَسْتَكْبِرُونَ ۩ ﴿١٥﴾

၁၅။ ငါအရှင်မြတ်၏ အာယတ်တော်များကို အကြင်သူတို့သည်သာလျှင် သက်ဝင်ယုံကြည်ကြကုန်၏။ ထိုသူတို့သည် ယင်းအာယတ်တော်များဖြင့် သတိပေးခြင်းကိုခံခဲ့ကြရသောအခါ ၎င်းတို့သည် (အလ္လာဟ်အရှင်မြတ်၏ရှေ့တော်မှောက်ဝယ်) "စဂျ်ဒဟ်" ပျပ်ဝပ်ဦးချလျက်ကျလာကြကုန်၏။ ထို့ပြင် ၎င်းတို့သည် မိမိတို့၏ အရှင်မြတ်အား ချီးမွမ်းခြင်းနှင့်တကွ (ထိုအရှင်မြတ်) စင်ကြယ်သန့်ရှင်းတော်မူကြောင်းကို မြွက်ဆိုကြသည့်ပြင် ၎င်းတို့သည် မာနထောင်လွှားခြင်းလည်း မရှိကြပေ။ (စဂျ်ဒဟ်)

تَتَجَافَىٰ جُنُوبُهُمْ عَنِ الْمَضَاجِعِ يَدْعُونَ رَبَّهُمْ خَوْفًا وَطَمَعًا وَمِمَّا رَزَقْنَاهُمْ يُنفِقُونَ ﴿١٦﴾

၁၆။ ထိုသူတို့၏ နံဘေးများသည် အိပ်ရာများမှ ခွဲခွာလျက်ရှိကြပေသည်။ ထိုသူတို့သည် မိမိတို့၏ အရှင်မြတ်အား ကြောက်ရွံ့စွာလည်းကောင်း၊ မျှော်လင့်စွာလည်းကောင်း၊ ဟစ်ခေါ် တ,သကြသည့်ပြင် ၎င်းတို့အား ငါအရှင်မြတ် ချီးမြှင့်ပေးသနားတော်မူခဲ့သည်များအနက်မှ သုံးစွဲလှူဒါန်းခြင်းကိုလည်း ပြုလုပ်ကြသည်။

فَلَا تَعْلَمُ نَفْسٌ مَّا أُخْفِيَ لَهُم مِّن قُرَّةِ أَعْيُنٍ جَزَاءً بِمَا كَانُوا يَعْمَلُونَ ﴿١٧﴾

၁၇။ စင်စစ်သော်ကား မိမိတို့အဖို့ မိမိတို့ ကျင့်မှု လျက်ရှိခဲ့ကြသည်များ၏ အကျိုးကျေးဇူးအဖြစ် လျှို့ ဝှက်စွာထားရှိပြီးဖြစ်သော မျက်စိအေးမြကြည်လင်မှု ကို မည်သူတဦးတယောက်မျှပင် မသိပြီတကား။ ၁

أَفَمَن كَانَ مُؤْمِنًا كَمَن كَانَ فَاسِقًا ۚ لَّا يَسْتَوُونَ ﴿١٨﴾

၁၈။ သို့ဖြစ်ပေရာ မုအ်မင်န် သက်ဝင်ယုံကြည်သူ သည် အမိန့်တော်ကို ဖီဆန်သောသူကဲ့သို့ ဖြစ်ပါ သလော။ (အလျှင်းမဟုတ်)၊ ၎င်းတို့သည် မတူကြပေ။

أَمَّا الَّذِينَ آمَنُوا وَعَمِلُوا الصَّالِحَاتِ فَلَهُمْ جَنَّاتُ الْمَأْوَىٰ نُزُلًا بِمَا كَانُوا يَعْمَلُونَ ﴿١٩﴾

၁၉။ မည်သို့ပင်ဖြစ်စေ၊ "အီမာန်" သက်ဝင်ယုံကြည် မှုထားရှိ၍ ကောင်းမြတ်သော အကျင့်သီလများကို ကျင့်မှုဆောက်တည်ခဲ့ကြကုန်သော သူတို့အဖို့ ၎င်းတို့ ကျင့်မှုလျက်ရှိခဲ့ကြသည့် (ကောင်းမြတ်သော) အကျင့် အမူများကြောင့် ဧည့်ခံသောအားဖြင့် ခိုလှုံနေထိုင်ရာ ဥယျာဉ်များ ရှိကြပေမည်။

---

① **မုအ်မင်န်တို့၏ ဂုဏ်ရည်များနှင့် အကျိုးဆက်၊**

မုအ်မင်န်သူတော်စင်များသည်-

(၁) အလ္လာဟ်အရှင်မြတ်၏ ဒေသနာတော်များကို ကြားနာကြရသောအခါ၊ ထိုအရှင်မြတ်အား ပျပ်ဝပ်ဦးချကြသည်။

(၂) နှုတ်ဖြင့် ထိုအရှင်မြတ်အား ဂုဏ်တော်မွမ်းကြသည်။

(၃) စိတ်နှလုံးများတွင် မောက်မာပလွှား ဝါကြွားမှုကို စိုးစဉ်းမျှမထားရှိကြပေ။

(၄) ၎င်းတို့သည် နေ့အချိန်များတွင် မဆိုထားဘိ၊ ညအချိန်သန်းခေါင်ယံတွင်ပင် နိုးကြားလျက် 'တဟဂ်ဂျုဒ်'ဆွလာတ် ဝတ်ပြုကြသည်။

(၅) မိမိတို့အား အလ္လာဟ်အရှင်မြတ် ချီးမြှင့်ထားတော်မူသည့် ဥစ္စာပစ္စည်းများအနက် အချို့အဝက်ကို ထိုအရှင်မြတ်၏ လမ်းတော်၌လှူဒါန်းကြသည်။

(၆) ၎င်းတို့သည် အခါခပ်သိမ်း ထိုအရှင်မြတ်ထံတော်၌သာ ဆိုးကျိုးကိုကြောက်ရွံ့စွာဖြင့် လည်းကောင်း၊ ကောင်းကျိုးကိုမျှော်လင့်စွာဖြင့် လည်းကောင်း၊ ဆုပန်ကြားကြသည်။

ထိုသို့အလ္လာဟ် အရှင်မြတ်အား စိတ်စေတနာ ဖြူစင်စွာဖြင့် ပရိယာယ်မဖက်၊ အလ္လာဟ်အတွက် သက်သက် ဝတ်ပြုကြသည့်အတွက် အလ္လာဟ်အရှင်မြတ်ကလည်း ယင်းသို့သော မုအ်မင်န်သူတော်စင်များအဖို့ ဂျန္နတ်တွင် မည်သည့်မျက်စိကမျှ မမြင်ဘူးသော၊ မည်သည့်နားကမျှ မကြားဘူးသော၊ မည်သူတစ်ဦးတယောက်၏ စိတ်နှလုံးတွင်မျှ အတွေးမသက်ရောက်ဘူးသော အမတသုခများကို အသင့်စီစဉ်ထားတော်မူသည်။

وَأَمَّا الَّذِينَ فَسَقُوا فَمَأْوَاهُمُ النَّارُ كُلَّمَا أَرَادُوا أَن يَخْرُجُوا مِنْهَا أُعِيدُوا فِيهَا وَقِيلَ لَهُمْ ذُوقُوا عَذَابَ النَّارِ الَّذِي كُنتُم بِهِ تُكَذِّبُونَ ﴿٢٠﴾

၂၀။ သို့ရာတွင် မည်သို့ပင်ဖြစ်စေ၊ အမိန့်တော်ကို ဖီဆန်ခဲ့ကြကုန်သော သူတို့၏ခိုလှုံရန်ဌာနမှာမူကား ငရဲပင်ဖြစ်လေ၏။ ၎င်းတို့သည် မည်သည့်အခါမျိုးမဆို ယင်းငရဲမှထွက်ရန် ကြံရွယ်ခဲ့ကြလျှင် ထိုငရဲမီးထဲသို့ပင် ပြန်လည်တွန်းပို့ခြင်းကို ခံကြရပေမည်။ ထိုမှတပါး ၎င်းတို့မှာ "အသင်တို့သည် မဟုတ်မမှန်ဟု စွပ်စွဲငြင်းပယ်လျက် ရှိခဲ့ကြကုန်သော ငရဲမီး၏ ပြစ်ဒဏ်ကို မြည်းစမ်းကြလေကုန်" ဟု ပြောဆိုခြင်းကိုလည်း ခံကြရပေမည်။

وَلَنُذِيقَنَّهُم مِّنَ الْعَذَابِ الْأَدْنَىٰ دُونَ الْعَذَابِ الْأَكْبَرِ لَعَلَّهُمْ يَرْجِعُونَ ﴿٢١﴾

၂၁။ ထိုမှတပါး ၎င်းတို့သည် (မိမိတို့၏သွေဖည်မှု တွဲဖက်နိုင်းယှဉ် ကိုးကွယ်မှုများကို စွန့်ပြီး) ပြန်လှည့်၍လာကြအံ့သောငှာ မုချစင်စစ် ငါအရှင်မြတ်သည် ၎င်းတို့အား ထိုကြီးစွာသောပြစ်ဒဏ်အပြင် ဤပစ္စက္ခတွင်ပင် သေးငယ်သော ပြစ်ဒဏ်ကိုလည်း မြည်းစမ်းစေအံ့မည်။ [၁]

وَمَنْ أَظْلَمُ مِمَّن ذُكِّرَ بِآيَاتِ رَبِّهِ ثُمَّ أَعْرَضَ عَنْهَا إِنَّا مِنَ الْمُجْرِمِينَ مُنتَقِمُونَ ﴿٢٢﴾

၂၂။ အကြင်သူထက်ပို၍ မတရားသောသူသည် မည်သူရှိအံ့နည်း။ ထိုသူသည် ၎င်းအား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၏ အာယတ်တော်များအားဖြင့် သတိပေးခြင်းခံခဲ့ရသည်။ ထို့နောက် ထိုသူသည် ယင်းအာယတ်တော်များမှ မျက်နှာလွှဲခဲ့၏။ ဧကန်မလွဲ ငါအရှင်မြတ်သည် အပြစ်ရှိသူတို့အား တုံ့ပြန်လက်စားချေတော်မူမည့် အရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

---

(၁) ကာဖိရ်များသည် နောင်တမလွန်ဘဝတွင် အတိုင်းမသိ အလွန်ကြီးမားသော ပြစ်ဒဏ်ကို ခံစားကြရမည်မှာ အမှန်ပင်။ သို့ပင်တစေ အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့အား နောင်တတရားရစိမ့်သောငှာ နောင်တမလွန်ဘဝ၏ ပြစ်ဒဏ်ကြီးအလျင် ဤပစ္စက္ခမှာပင် ထိုပြစ်ဒဏ်ကြီးတမျှ မကြီးလေးလှသည့် ပြစ်ဒဏ်ငယ်များကို ဥပမာ-ရောဂါကပ်ခြင်း၊အသတ်ခံရခြင်း။ အချုပ်အနှောင်ခံရခြင်း၊ ဥစ္စာပစ္စည်း၊ သားသမီးပျက်စီးခြင်းစသည့် ➤➤

وَلَقَدْ اٰتَيْنَا مُوْسَى الْكِتٰبَ فَلَا تَكُنْ فِىْ مِرْيَةٍ مِّنْ لِّقَآئِهٖ وَجَعَلْنٰهُ هُدًى لِّبَنِىْٓ اِسْرَآءِيْلَ ﴿٢٣﴾

၂၃။ ၎င်းပြင် မလွဲဧကန် ငါအရှင်မြတ်သည် (နဗီတမန်တော်)မူစာအားလည်း ကျမ်းဂန် ဓမ္မကွန်ကို ချီးမြှင့်ပေးသနားတော်မူခဲ့ရာ အသင်သည် ဤ (ကုရ်အာန်)ကျမ်းတော်ကို ရရှိခြင်းနှင့်စပ်လျဉ်း၍ မည်သို့မျှ ဒွိဟသံသယ မရှိလေနှင့်။ ထိုမှတပါး ငါအရှင်မြတ်သည် (နဗီတမန်တော်မူစာအား ချီးမြှင့်တော်မူခဲ့သော) ယင်းကျမ်းဂန်ဓမ္မကွန်ကို အစ္စရာအီလီမျိုးနွယ်တို့အဖို့ တရားလမ်းညွှန်ပြုလုပ်တော်မူခဲ့၏။

وَجَعَلْنَا مِنْهُمْ اَئِمَّةً يَّهْدُوْنَ بِاَمْرِنَا لَمَّا صَبَرُوْا ۗ وَكَانُوْا بِاٰيٰتِنَا يُوْقِنُوْنَ ﴿٢٤﴾

၂၄။ ထိုမှတပါး ငါအရှင်မြတ်သည် ထိုအစ္စရာအီလီမျိုးနွယ်တို့အနက် ၎င်းတို့သည် သည်းခံခဲ့ကြသောအခါ၊ ရှေ့ဆောင်ရှေ့ရပ်များ ပြုလုပ်ခန့်အပ်တော်မူခဲ့၏။ ထိုရှေ့ဆောင်ရှေ့ရပ်တို့သည် ငါအရှင်မြတ်၏ အမိန့်တော်နှင့် တရားလမ်းညွှန်ကြကုန်၏။ ထို့ပြင် ၎င်းတို့သည် ငါအရှင်မြတ်၏ အာယတ်တော်များကို ယုံကြည်သူများလည်း ဖြစ်ခဲ့ကြကုန်၏။

اِنَّ رَبَّكَ هُوَ يَفْصِلُ بَيْنَهُمْ يَوْمَ الْقِيٰمَةِ فِيْمَا كَانُوْا فِيْهِ يَخْتَلِفُوْنَ ﴿٢٥﴾

၂၅။ ဧကန်အမှန် အသင့်အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်သည် "ကိယာမတ်" ရှင်ပြန်ထမည့်နေ့တွင် ("မုအ်မင်န်" သက်ဝင်ယုံကြည်သူများနှင့် "မုရှ်ရစ်က်" တွဲဖက်နိူင်းယှဉ်ကိုးကွယ်) သူတို့၏ အကြားဝယ် ၎င်းတို့ သဘောကွဲလွဲလျက် ရှိခဲ့ကြကုန်သောအရေးကိစ္စနှင့် စပ်လျဉ်း၍ စီရင်ဆုံးဖြတ်တော်မူအံ့သတည်း။ [၁]

---

➤➤ လောကီဆိုင်ရာ ဒုက္ခကြီးငယ်များကိုလည်း ခံစားစေတော် မူဦးမည်ဖြစ်သည်။ စဉ်းစားဆင်ခြင်ကြည့်ပါက နောင်တတရား ရလိုသူများအဖို့ ဤမျက်မှောက်ဘဝတွင် တွေ့ကြုံခံစားကြရသော ဒုက္ခကြီးငယ်များသည် ကြိုတင်သတိပေး နှိုးဆော်ချက်များပင်။ ပြစ်ဒဏ်ကြီးမှ လွတ်မြောက်စေသည့် ပြစ်ဒဏ်ငယ်များပင်။ တနည်းဆိုသော် ဤသည်လည်း အလ္လာဟ်အရှင်မြတ်၏ ကရုဏာတော်ပင်။

(၁) **တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)အား နှစ်သိမ့်စေတော်မူခြင်း၊**

အလ္လာဟ်အရှင်မြတ်သည် ဤအာယတ်တော်တွင် တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိ➤➤

➤➤ ဝစလ္လမ်)နှင့် နောက်လိုက်တပည့်သား မုစ်လင်မ်တို့အား တမန်တော်မူစာ(အလိုင်ဟစ္စလာမ်)နှင့် နောက်လိုက်တပည့်သား အစ္စရာအီလီမျိုးနွယ်ဝင်များ၏ အကြောင်းကို ထုတ်ဖော်မိန့်ကြားတော်မူပြီး နှစ်သိမ့်စေထားတော်မူသည်။

အလိုသဘောမှာ အလ္လာဟ်အရှင်မြတ်သည်

(၁) တမန်တော်မူစာ(အလိုင်ဟဝစ္စလာမ်)အား 'တောင်ရာတ်ကျမ်း' ကို ချီးမြှင့်တော်မူခဲ့သည်။ တမန်တော်မူစာသည် တောင်ရာတ်ကျမ်းကို ဖြန့်ချီရာတွင် ဒုက္ခကြီးငယ်အမျိုးမျိုးနှင့် ရင်ဆိုင်ခဲ့ရသည်။ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည်လည်း ထိုသို့ပင် ရင်ဆိုင်ရမည်သာ ဖြစ်သည်။ စိတ်အားငယ်ရန်မဟုတ်။

(၂) အလ္လာဟ်အရှင်မြတ်သည် တမန်တော်မူစာ(အလိုင်ဟစ္စလာမ်)အား တောင်ရာတ်ကျမ်း ချီးမြှင့်ထားတော်မူသကဲ့သို့ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)ကိုလည်း ကုရ်အာန်ကျမ်းမြတ်ကို ချီးမြှင့်ထားတော်မူသည်။ တမန်တော်ခြော်သည် ကျမ်းဂန်ရ တမန်တော် တပါးဖြစ်ပေရာ၊ အချို့သူမိုက်များ၏ သွေဖည်ကျောခိုင်းမှုများကြောင့် စိတ်အားမလျှော့ရာ။

(၃) အလ္လာဟ်အရှင်မြတ်သည် တောင်ရာတ်ကျမ်းကို အစ္စရာအီလီ မျိုးနွယ်ဝင်များအဖို့ တရားလမ်းညွှန် ပြုလုပ်ထားတော်မူသကဲ့သို့ တမန်တော်မြတ် ချီးမြှင့်တော်မူခြင်းခံရသော ကုရ်အာန်ကျမ်းမြတ်ကိုလည်း ကမ္ဘာတဝန်းအဖို့ တရားလမ်းညွှန် ပြုလုပ်ထားတော်မူသည်။ ကုရ်အာန်ကျမ်းမြတ်၏ ကျေးဇူးတော်ဖြင့် မြောက်မြားစွာသောကမ္ဘာသူ၊ ကမ္ဘာသားများ တရားရကြပေမည်။ ဤကား ဝမ်းသာဖွယ်ရာပင်။

(၄) အစ္စရာအီလီမျိုးနွယ်ဝင်များသည် အလ္လာဟ်အရှင်မြတ်၏ ဒေသနာတော်များကို ယုံကြည်မြတ်နိုး၍ သာသနာ့ရေးရာတွင် ဒုက္ခကြီးငယ်များအပေါ်၌ သည်းခံခဲ့ကြသည့်အခါ အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့တွင် များစွာသော ရှေ့ဆောင်ရှေ့ရပ်များ ခန့်အပ်တော်မူခဲ့သည်။ ထို့အတူ တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)၏ နောက်လိုက်တပည့်သား တို့အားလည်း ဒေသနာတော်များကို ယုံကြည်မြတ်နိုးကြ၊ သည်းခံကြလျှင်၊ ရှေ့ဆောင်ရှေ့ရပ်များ ခန့်အပ်တော်မူမည်သာဖြစ်သည်။ ဤသည် တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)၏ တပည့်သားတို့အဖို့ ဝမ်းသာဖွယ်ရာပင်။

(၅) ထို့ပြင်တဝ ဤမျက်မှောက်ကာလတွင် လူသားတို့ကွဲလွဲနေကြသော ပြဿနာ အရပ်ရပ်နှင့်စပ်လျဉ်း၍ အလ္လာဟ်အရှင်မြတ်သည် ကိယာမတ်နေ့တွင် လက်တွေ့အဆုံးအဖြတ်ပေးတော်မူမည်ဖြစ်သည်။ (ဝါ) မုအ်မင်န်တို့အား ဂျန္နတ်တွင် စံစားစေတော်မူ၍ ကာဖိရ်တို့အား ဂျဟန္နမ်သို့ လားစေတော်မူမည်။ ကိယာမတ်ကား မဝေးလှပြီ။ ဤသည်လည်း မုအ်မင်န်တို့အဖို့ ဝမ်းသာဖွယ်ရာပင်။ (ကြည့်-ထာနဝီ)။

**ခုတ်ချက်။**

ဤအာယတ်တော် (၃၂း၂၃) ၌ လာရှိသော "လိကာအိဟီ"ဟူသော ပုဒ်တွင် ပါရှိသည့် "ဟီ"ဟူသော နာမ်စားသည် ကျမ်းဂန်ကိုရည်ညွှန်းသည်။ တမန်တော်မူစာ (အလိုင်ဟစ္စလာမ်)အား ရည်ညွှန်းသည်ဟုလည်း ဆိုနိုင်ပေသည်။ အဘယ်ကြောင့်ဆိုသော် တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)သည် "မိအ်ရာဂျ်" ညတွင် တမန်တော်မူစာ (အလိုင်ဟစ္စလာမ်)နှင့်လည်း တွေ့ဆုံတော်မူခဲ့ပေသည်။

أَوَلَمْ يَهْدِ لَهُمْ كَمْ أَهْلَكْنَا مِن قَبْلِهِم مِّنَ الْقُرُونِ يَمْشُونَ فِي مَسَاكِنِهِمْ ۚ إِنَّ فِي ذَٰلِكَ لَآيَاتٍ ۖ أَفَلَا يَسْمَعُونَ ﴿٢٦﴾

၂၆။ ငါအရှင်မြတ်သည် ၎င်းတို့အလျင် မြောက်မြားစွာသောမျိုးနွယ်တို့ကို (သွေဖည်မှု၊ တွဲဖက်နိုင်းယှဉ်ကိုးကွယ်မှုများကြောင့်) ဖျက်ဆီးတော်မူခဲ့၍၊ ၎င်းတို့သည် (ဖျက်ဆီးခြင်းခံခဲ့ကြရသော)သူတို့၏ နေထိုင်ရာဒေသများ၌ (ဖြတ်သန်း) သွားလာလျက် ရှိကြသည်။ ဤသည် ၎င်းတို့အဖို့ တရားလမ်းညွှန် မဖြစ်လေသလော။ ဧကန်စင်စစ် ဤ(ဖြစ်ရပ်)၌ အမှန်ပင်သက်သေ အထောက်အထားများသည် ရှိကြပေသည်။ သို့ပါလျက် ၎င်းတို့သည် မကြားကြလေသလော။ [၁]

أَوَلَمْ يَرَوْا أَنَّا نَسُوقُ الْمَاءَ إِلَى الْأَرْضِ الْجُرُزِ فَنُخْرِجُ بِهِ زَرْعًا تَأْكُلُ مِنْهُ أَنْعَامُهُمْ وَأَنفُسُهُمْ ۖ أَفَلَا يُبْصِرُونَ ﴿٢٧﴾

၂၇။ ၎င်းတို့သည် စဉ်းစားဆင်ခြင်တွေ့မြင်ကြသည် မဟုတ်လော၊ ဧကန်အမှန် ငါအရှင်မြတ်သည် (မိုး)ရေကို ခြောက်သွေ့လျက်ရှိသောမြေယာသို့ မောင်းနှင်ပို့ပေးတော်မူ၏။ ထို့နောက် ငါအရှင်မြတ်သည် ထိုမိုးရေဖြင့် ကောက်ပဲသီးနှံများကို ထွက်စေတော်မူ၏။ ထို(ပေါက်ရောက်သော) ကောက်ပဲသီးနှံတို့မှ ၎င်းတို့၏ ကုလားအုတ်၊ ကျွဲ၊ နွား၊ တိရစ္ဆာန်များလည်း စားကြကုန်၏။ ၎င်းတို့ကိုယ်တိုင်လည်း စားသုံးကြကုန်၏။ သို့ပါလျက် ၎င်းတို့သည် မမြင်ကြလေသလော။

---

(၁) **သတိမမူ ဝှမမြင်။**

အမှန်နှင့်အမှား၊ မှအ်မင်န်နှင့်ကာဖိရ်တို့စပ်ကြား၊ ကိယာမတ်နေ့တွင် ထင်ရှားပြတ်သားစွာ အဆုံးအဖြတ်ကျမည်ကား အမှန်ပင်။ သို့ပင်တစေ ဤပစ္စက္ခတွင်လည်း စဉ်းစားဆင်ခြင် မြော်မြင်လိုသူများအဖို့ စဉ်းစားဆင်ခြင်နိုင်ရန် ဖြစ်ရပ်များကား မနည်းပေ။ အာဒ်၊ ဆမူဒ်စသည့် အမျိုးသားများသည် ကုဖ်ရ်၊ ရှရစ်က်မှုများတွင် နစ်မွန်းနေခဲ့ကြသည့်အတွက် ဤပစ္စက္ခ၌ပင် ပြစ်ဒဏ်သင့်၍ မရှုမလှသေကြေ ပျက်စီးသွားခဲ့ကြရချေပြီ။ ဤကား ကမ္ဘာ့သမိုင်းစဉ်တွင် အထင်အရှားပင်။ အထူးသဖြင့် အရဗ်အမျိုးသားတို့သည် ထိုသို့ သေကြေပျက်စီးသွားခဲ့ကြသော အာဒ်၊ ဆမူဒ် စသည့် အမျိုးသားတို့ နေထိုင်ရာဒေသများကို နေ့စဉ်နှင့်အမျှ ဖြတ်သန်းသွားလာလျက် ရှိကြပေသည်။ သင်ခန်းစာ ယူနိုင်ကြပေသည်။ သတိမမူ၍ ဝှမမြင်က သတိမမူသူ၏ အပြစ်သာ ဖြစ်ချိမ့်မည်။

وَيَقُولُونَ مَتَىٰ هَٰذَا الْفَتْحُ إِن كُنتُمْ صَادِقِينَ ﴿٢٨﴾

၂၈။ ထိုမှတပါး ၎င်းတို့က "အကယ်၍ အသင်တို့သည် သစ္စာဝါဒီများ ဖြစ်ကြပါလျှင် ဤစီရင် ဆုံးဖြတ်မှုသည် မည်သည့်အခါ၌ ဖြစ်အံ့နည်း" ဟု ပြောဆိုကြကုန်၏။

قُلْ يَوْمَ الْفَتْحِ لَا يَنفَعُ الَّذِينَ كَفَرُوا إِيمَانُهُمْ وَلَا هُمْ يُنظَرُونَ ﴿٢٩﴾

၂၉။ (အို-နဗီတမန်တော်၊) အသင်သည် ပြောကြားပါလေ။ (အချင်းတို့၊) ထို စီရင်ဆုံးဖြတ်ကြမည့်နေ့တွင် "ကာဖိရ်" သွေဖည် ငြင်းပယ်ခဲ့ကြကုန်သော သူတို့၏ယုံကြည်မှုသည် ၎င်းတို့အား အကျိုးပေးမည် မဟုတ်ပေ။ ထိုမှတပါး ၎င်းတို့သည် ရွှေ့ဆိုင်းခြင်းကိုလည်း ခံကြရမည် မဟုတ်ပေ။

فَأَعْرِضْ عَنْهُمْ وَانتَظِرْ إِنَّهُم مُّنتَظِرُونَ ﴿٣٠﴾

၃၀။ သို့ဖြစ်ပေရာ (အို-နဗီတမန်တော်၊) အသင်သည် ၎င်းတို့(၏ပြောဆိုမှု)ကို လျစ်လျူရှု၍ (အလ္လာဟ်အရှင်မြတ် ချိန်းချက်ထားတော်မူသော အဆုံးအဖြတ်ကိုသာ) စောင့်ဆိုင်းလျက်ရှိပါလေ။ ၎င်းတို့သည်လည်း (မိမိတို့ယူဆချက်အရ အသင့်အား အန္တရာယ်ပြုရန်) စောင့်ဆိုင်း၍နေကြသူများပင်ဖြစ်ကြကုန်သတည်း၊ [၁]

---

(၁) ကိယာမတ်နေ့တွင် အတိအကျ အဆုံးအဖြတ်ကျမည် ဖြစ်ကြောင်းကို ကာဖိရ်များ ကြားသိသောအခါ ကာဖိရ်များသည် သတိသံဝေဂ နှောင်တရကာ ကိယာမတ်နေ့၏ ပြစ်ဒဏ်မှလွတ်မြောက်ရန် ကြိုးစားကြရမည့်အစား "ဤအဆုံးအဖြတ်သည် မည်သည့်အခါ ကျအံ့နည်း" ဟူ၍ပင် ပြက်ရယ်သည့်သဘောဖြင့် ပြောဆိုကြသည်။ ကာဖိရ်များကား မိုက်တွင်းနက်ကြပါဘိတကား။ ကိယာမတ်ကား မုချဖြစ်မည်။ ထိုနေ့တွင် အဆုံးအဖြတ် မုချကျမည်။ ထိုနေ့ဆိုက်ရောက်လာသည့်အခါမှ အီမာန်ယုံကြည်ခြင်းသည် ကာဖိရ်များအဖို့ အသို့မျှအကျိုးရှိမည်လည်း မဟုတ်၊ ၎င်းတို့သည် ဆိုင်းငံ့ခွင့် ရရှိကြမည်လည်းမဟုတ်၊ သို့ဖြစ်ပေရာ တမန်တော်မြတ် (ဆွလ္လလ္လာဟုအလိုင်ဟိဝစလ္လမ်)သည် ဤမျှ စိတ်ဓာတ်ခဲယဉ်းသော၊ ဆိုးသွမ်းမိုက်မဲသော၊ ပြစ်ဒဏ်ကို လက်ယပ်ခေါ်နေသော၊ ငရဲတွင်းသို့ ဇွတ်အတင်းဆင်းလိုသော သူမိုက်တို့အား လျစ်လျူပြုကာ ချိန်းချက်ထားတော်မူသည့် အဆုံးအဖြတ်ကို စောင့်ဆိုင်းရန်သာ ရှိပေတော့သည်။ ယင်းကာဖိရ် သူမိုက်များသည်လည်း ၎င်းတို့၏ ထင်မြင်ချက်အရ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)၌ ဘေးသင့်မည်ကို စောင့်ဆိုင်းလျက်ပင် ရှိကြပေမည်။ မည်သူ၏စောင့်ဆိုင်းမှုသည် ဖြစ်ရပ်မှန်နှင့်ကိုက်ညီမည်။ မည်သူ နှာခေါင်းကျည်ပွေ့ တွေ့ရမည်ကို မကြာမီ သိကြရတော့မည်။

## မဟာမိတ်များကဏ္ဍ

## سُورَةُ الأَحْزَابِ

ဤကဏ္ဍသည် "အဟ်ဇာဗ်" မဟာမိတ်များအကြောင်း ပါဝင်သော ကဏ္ဍမည်၏။
မဒီနာမြို့၌ ကျရောက်ခဲ့၏။
ဤကဏ္ဍတွင် အာယတ်တော် (၇၃)ပါး၊ ရုကူအ်အပိုဒ်(၉)ပိုဒ် အသီးသီးပါရှိ၏။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ○

မပြတ်မစဲ သနားကြင်နာ ညှာတာတော်မူသော၊
အနန္တကရုဏာတော်ရှင် ဖြစ်တော်မူသော
အလ္လာဟ်အရှင်မြတ်၏နာမံတော်ဖြင့် အစပြုပါ၏။

يٰۤاَيُّهَا النَّبِيُّ اتَّقِ اللّٰهَ وَلَا تُطِعِ الْكٰفِرِيْنَ وَالْمُنٰفِقِيْنَ ؕ اِنَّ اللّٰهَ كَانَ عَلِيْمًا حَكِيْمًا ۙ﴿۱﴾

၁။ အို-နဗီတမန်တော်၊ အသင်သည် အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့၍ပင် နေပါလေ၊ ထို့ပြင် အသင်သည် "ကာဖိရ်" သွေဖည် ငြင်းပယ်သော သူတို့၏ ပြောဆိုချက်ကို လည်းကောင်း၊ "မုနာဖစ်က်" အယောင်ဆောင်မှစ်လင်မ်တို့၏ ပြောဆိုချက်ကိုလည်းကောင်း၊ မလိုက်နာပါလေနှင့်။

ကေန်မလွဲ အလ္လာဟ်အရှင်မြတ်သည် အရာခပ်သိမ်းတို့ကို အကြွင်းမဲ့ သိတော်မူသော၊ ဆင်ခြင်တုံတရားနှင့် ပြည့်စုံတော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူပေသည်။

وَّاتَّبِعْ مَا يُوْحٰۤى اِلَيْكَ مِنْ رَّبِّكَ ؕ اِنَّ اللّٰهَ كَانَ بِمَا تَعْمَلُوْنَ خَبِيْرًا ۙ﴿۲﴾

၂။ သို့ရာတွင် အသင်သည် မိမိထံသို့ မိမိအရှင်မြတ်အထံတော်မှ ထုတ်ပြန်ခြင်းခံရသောအမိန့်တော်များကိုသာလျှင် လိုက်နာ ဆောင်ရွက်ပါလေ။

ကေန်စင်စစ် အလ္လာဟ်အရှင်မြတ်သည် အသင်တို့ ကျင့်မူလျက် ရှိကြသည်များကို ကောင်းစွာ ကြားသိတော်မူသောအရှင်မြတ်ပင် ဖြစ်တော်မူပေသည်။

وَتَوَكَّلْ عَلَى اللَّهِ ۚ وَكَفَىٰ بِاللَّهِ وَكِيلًا ﴿٣﴾

၃။ ထိုမှတပါး အသင်သည် အလ္လာဟ်အရှင်မြတ်အပေါ်၌ ယုံပုံလွှဲအပ်ပါလေ။ စင်စစ်သော်ကား အလ္လာဟ်အရှင်မြတ်သည်ပင်လျှင် ကိစ္စအဝဝကို ပြီးစီးအောင် ဆောင်ရွက်ပေးတော်မူသော အရှင်မြတ်အဖြစ် လုံလောက်တော်မူပေသတည်း။ [၁]

مَّا جَعَلَ اللَّهُ لِرَجُلٍ مِّن قَلْبَيْنِ فِي جَوْفِهِ ۚ وَمَا جَعَلَ أَزْوَاجَكُمُ اللَّائِي تُظَاهِرُونَ مِنْهُنَّ أُمَّهَاتِكُمْ ۚ وَمَا جَعَلَ أَدْعِيَاءَكُمْ أَبْنَاءَكُمْ

၄။ အလ္လာဟ်အရှင်မြတ်သည် မည်သည့် လူတစ်ဦးတစ်ယောက်အဖို့မျှ ၎င်း၏ခန္ဓာကိုယ်၌ စိတ်နှလုံးနှစ်ခု ပြုလုပ်တော်မူခဲ့သည်မဟုတ်ပေ။ ၎င်းပြင် ထိုအရှင်မြတ်သည် အသင်တို့၏ အကြင်ဇနီးကြင်ရာများကို အသင်တို့၏မိခင်(အရင်းအခြာ)များ ပြုလုပ်တော်မူခဲ့သည် မဟုတ်ပေ။ အသင်တို့ ထိုဇနီးမိန်းမတို့အား "အသင်မသည် ကျွန်ုပ်အပေါ်၌ မိခင်ကဲ့သို့ 'ဟရာမ်' ဖြစ်သည်" ဟု ပြောဆို(၍ "ဇိဟာရ်" ပြုလုပ်)ကြကုန်၏။ ထိုမှတပါး ထိုအရှင်မြတ်သည် အသင်တို့၏မွေးစားသားများကိုလည်း အသင်တို့၏ *သား(အရင်းအခြာ)များ ပြုလုပ်တော်မူခဲ့သည် မဟုတ်ပေ။* [၂]

---

(၁) ဆိုလိုသည်ကား တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် နောက်နောင်တွင်လည်း ယခင်နည်းတူပင်၊ အလ္လာဟ်အရှင်မြတ်အားသာ ကြောက်ရွံ့ ရိုသေခန့်ညားစွာ နေပါလေ။ ကာဖိရ်နှင့်မုနာဖစ်က်တို့သည် အဘယ်မျှပင် လူအင်အား စုထားကြလင့်ကစား၊ မည်သို့ပင် ကြံစည်ကြလင့်ကစား မိမိတို့၏ မမှန်ကန်သော တောင်းဆိုချက်များကို လိုက်လျောရန် ကြိုးစားကြလင့်ကစား၊ ဉာဏ်နီဉာဏ်နက်ဖြင့် အသို့ပင် အကြံဉာဏ်ပေးကြလင့်ကစား၊ မိမိတို့ဘက်သို့ တနည်းတဖုံ ယိမ်းယိုင်လာအောင် အစွမ်းကုန် ကြိုးစားကြလင့်ကစား ဘမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် ၎င်းတို့ကို စိုးစဉ်းမျှပင် ကြောက်ရန်မလို၊ ထောက်ထားရန်မလို၊ ဂရုမူရန်မလို။ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် အလ္လာဟ်အရှင်မြတ်အားသာလျှင် ယခင်နည်းတူ အခါခပ်သိမ်း ကြောက်ရွံ့ရိုသေ ခန့်ညားရန်သာလိုသည်။ အလ္လာဟ်အရှင်မြတ်ထံတော်မှ ကျရောက်သော အမိန့်တော်များကိုသာ နာယူကျင့် မူရန်လိုသည်။ အရေးကိစ္စအဝဝတွင် အလ္လာဟ်အရှင်မြတ်အားသာ ယုံပုံလွှဲအပ်ထားရန်လိုသည်။ အလ္လာဟ်အရှင်မြတ်သည် အရာခပ်သိမ်းကုန်တို့ကို အကြွင်းမဲ့သိတော်မူသော၊ ဆင်ခြင်တုံတရားနှင့် ပြည့်စုံတော်မူသော၊ အရေးကိစ္စအဝဝကို ပြီးမြောက်ပြည့်စုံအောင် ပြုလုပ်တော်မူနိုင်သောအရှင်ဖြစ်တော်မူသည်။ သို့ဖြစ်ရာ ထိုအရှင်မြတ်သည် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)၏ အရေးကိစ္စလိုအင်ဆန္ဒအဝဝကို ပြီးပြည့်စုံစေတော်မူမည်သာတည်း။

ذٰلِكُمۡ قَوۡلُكُمۡ بِاَفۡوَاهِكُمۡ‌ؕ وَاللّٰهُ يَقُوۡلُ الۡحَـقَّ وَهُوَ يَهۡدِى السَّبِيۡلَ ④

ထိုသည်တို့ကား အသင်တို့ မိမိတို့နှုတ်များဖြင့် ပြောဆိုကြသော အသင်တို့၏ ပြောဆိုချက်မျှပင် ဖြစ်ပေသည်။ သို့ရာတွင် အလ္လာဟ်အရှင်မြတ်မှာမူကား အမှန်ကို မိန့်ကြားတော်မူ၏။ ထိုမှတပါး ထိုအရှင်မြတ်သည်သာလျှင် (ဖြောင့်မတ်သော)လမ်းကို ညွှန်ပြတော်မူ၏။

---

② **အမိုက်ခေတ်၏ မှားယွင်းချက် သုံးရပ်၊**

အမိုက်ခေတ်တွင် တစ်ဦးတစ်ယောက်က မိမိ၏ဇနီးအား 'အသင်မသည် ကျွန်ုပ်၏ မိခင်ဖြစ်သည်'ဟု ဆိုလိုက်လျှင် ထိုဇနီးသည် မိခင်အရင်းအခြာ ဖြစ်သွားသည်ဟု ထင်မှတ်ခဲ့ကြ၏။ သို့ထင်မှတ်ခဲ့ကြသည့်အလျောက် ထိုဇနီးသည်ထိုသူအဖို့ တသက်တာလုံး ဟရာမ်ဖြစ်သွားခဲ့၏။ ဤသည် အမှားပင်။

ထို့အတူ အမိုက်ခေတ်တွင် တစ်ဦးတစ်ယောက်အား သားအဖြစ် မွေးစားလိုက်လျှင် မွေးစားသားသည် သားအရင်းအခြာ ဖြစ်သွားသည်ဟု ထင်မှတ်ခဲ့ကြ၏။ သို့ထင်မှတ်ခဲ့ကြသည့်အလျောက် ထိုမွေးစားသားသည် သားအရင်းအခြာဖြစ်ကာ သားအရင်းအခြားတစ်ယောက် ရသင့်ရထိုက်သော အခွင့်အရေးများကို ရရှိသွားခဲ့၏။ ဤသည်လည်း အမှားပင်။

ထို့အတူ အမိုက်ခေတ်တွင် အသိဉာဏ်ထက်မြက်သူ၊ အမြော်အမြင်ကြီးသူ၌ စိတ်နှလုံးနှစ်ခုရှိသည်ဟု ထင်မှတ်ခဲ့ကြ၏။ ဤသည်လည်း အမှားပင်။

လူတစ်ဦး၌ စိတ်နှလုံးနှစ်ခုမရှိသကဲ့သို့ နှုတ်ဖြင့်ပြောဆိုရုံမျှဖြင့် ဇနီးသည်မိခင်အရင်းအခြာ ဖြစ်မသွားကြောင်း၊ မွေးစားသားသည် သားအရင်းအခြာ ဖြစ်မသွားကြောင်းများကို ဤအာယတ်တော်များတွင် မိန့်ဆိုထားတော်မူသည်။

**မှတ်ချက်။**

မိမိ၏ဇနီးအား "ဇိဟာရ်"လုပ်သူများ (ဝါ)မိမိ၏ဇနီးအား မိမိ၏မိခင်၏ လျှို့ဝှက်ထားအပ်သော အစိတ်အပိုင်းတစ်ခုခုနှင့် နှိုင်းယှဉ်၍ ဥပမာ- "အသင်မသည် ကျွန်ုပ်၏မိခင်၏ ကျောက်ကုန်းနှင့်တူသည်"ဟု ပြောဆိုသူများ မည်သို့မည်ပုံ လိုက်နာဆောင်ရွက်ကြရမည့်အကြောင်း ကုရ်အာန် (၅၈း၃-၄)တွင် အကျယ်တဝင့် မိန့်ဆိုထားတော်မူသည်။

**မှတ်ချက်။**

အမိုက်ခေတ်၏သားအဖြစ် မွေးစားခြင်းမျိုးကိုသာလျှင် အစ္စလာမ်က ပိတ်ပင်ခြင်းဖြစ်သည်။ အမိုက်ခေတ်၏ အယူအဆသဘောထားမပါဘဲ တစ်ဦးတစ်ယောက်အား တင်စားသည့်သဘောဖြင့် လည်းကောင်း၊ ချစ်ကြင်သနားသောအားဖြင့်သော် လည်းကောင်း 'သား'ဟု ဆိုခြင်း၊ သားအဖြစ် မွေးစားခြင်း၊ မိမိ၏ပစ္စည်းကို အမွေသဘောမျိုးဖြင့် မဟုတ်ဘဲ(ဟိဗဟ်-Gift) ရိုးရိုးပေးခြင်းများကိုမူ အစ္စလာမ်က မပိတ်ပင်ပေ။

ادْعُوهُمْ لِآبَائِهِمْ هُوَ أَقْسَطُ عِنْدَ اللَّهِ ۚ فَإِنْ لَمْ تَعْلَمُوا آبَاءَهُمْ فَإِخْوَانُكُمْ فِي الدِّينِ وَمَوَالِيكُمْ ۚ وَلَيْسَ عَلَيْكُمْ جُنَاحٌ فِيمَا أَخْطَأْتُمْ بِهِ وَلَٰكِنْ مَا تَعَمَّدَتْ قُلُوبُكُمْ ۚ وَكَانَ اللَّهُ غَفُورًا رَحِيمًا ⑤

၅။ အသင်တို့သည် ၎င်းတို့အား ၎င်းတို့၏ ဖခင်များနှင့် ဆက်စပ်ကာ (မည်သူမည်ဝါ၏ သားဖြစ်သည်)ဟု ခေါ်ဝေါ်ကြလေကုန်။ ဤသည်သာလျှင် *အလ္လာဟ်အရှင်မြတ်အထံတော်၌ တရားအမျှတဆုံးဖြစ်၏။* [၁] သို့ရာတွင် အကယ်၍ အသင်တို့သည် ၎င်းတို့၏ဖခင်များကို မသိခဲ့ကြလျှင် ၎င်းတို့သည် အသင်တို့၏ သာသနာဝင်ညီအစ်ကိုများ ဖြစ်ကြသည့်ပြင်၊ အသင်တို့၏ အဆွေခင်ပွန်းများလည်း ဖြစ်ကြကုန်၏။

စင်စစ်သော်ကား အသင်တို့အပေါ်၌ အသင်တို့ မေ့မှား၍ပြုမူခဲ့ကြကုန်သော အမှုကိစ္စနှင့်စပ်လျဉ်း၍ အပြစ်တစုံတရာ မရှိပေ။ သို့ရာတွင် အသင်တို့၏ စိတ်က ကြံရွယ်ပြုလုပ်ခဲ့ကြကုန်သော အမှုကိစ္စ၌မူ (အပြစ်)ရှိသည်။ အမှန်စင်စစ်သော်ကား အလ္လာဟ်အရှင်မြတ်သည် အလွန်တရာ ခွင့်လွှတ်ချမ်းသာ ပေးတော်မူသောအရှင်၊ အလွန်တရာ သနားကြင်နာတော်မူသောအရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

---

(၁) အသင့်မြတ်ဆုံးမှာ လူတိုင်းအား ၎င်း၏ဖခင်ကိုထုတ်ဖော်ပြီး မည်သူသည် မည်သူ၏သားဖြစ်သည်။ မောင်ဖြူသည် မောင်မည်း၏သားဖြစ်သည်ဟူ၍ ခေါ်ဝေါ်သုံးနှုန်းခြင်းသာ ဖြစ်သည်။ တစ်ဦးတစ်ယောက်ကို သားအဖြစ်မွေးစားရုံမျှဖြင့် မွေးစားသူသည် မွေးစားသား၏ ဖခင်အရင်းအခြာ ဖြစ်သွားသည်မဟုတ်ပေ။ (ချစ်မြတ်နိုးသည့်အတွက် တစ်ဦးတစ်ယောက်ကိုတင်စား၍ သားသို့မဟုတ် 'အဘ'ဟု ခေါ်ဝေါ်သုံးနှုန်းထားခြင်းမှာ တဘာသာပင်။) ဆိုလိုသည်ကား သွေးအားဖြင့် တော်စပ်သောသားချင်း ဆွေမျိုးတော်စပ်မှုများနှင့် ၎င်းတို့၏ စည်းကမ်းချက်များတွင် သို့လောသို့လော မဖြစ်စေရာ။

အစ္စလာမ်သာသနာ ထွန်းကားခါစအချိန်တွင် တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)သည် ဟာရိဆဟ်၏သား ဇိုက်ဒ်ကို ကျေးကျွန်အဖြစ်မှ လွတ်မြောက်စေပြီး သားအဖြစ် မွေးစားတော်မူခဲ့၏။ ထိုအခါ လူများသည် မိမိတို့၏ထုံးတမ်းစဉ်လာအရ ဇိုက်ဒ်အား "ဇိုက်ဒ်အစ်ဗ်နု မုဟမ္မဒ်" (တမန်တော်မြတ်) မုဟမ္မဒ်၏သား ဇိုက်ဒ်ဟု ခေါ်ဝေါ်ခဲ့ကြ၏။ ဤအာယတ်တော် ကျရောက်လာသည့်အခါ လူများသည် ဇိုက်ဒ်အား ၎င်း၏ဖခင် အရင်းအခြာကို ထုတ်ဖော်ပြီး "ဇိုက်ဒ်အစ်ဗ်နုဟာရိဆဟ်" ဟာရိဆဟ်၏သားဇိုက်ဒ်ဟု ခေါ်ဆိုခဲ့ကြလေသည်။

اَلنَّبِيُّ اَوْلٰى بِالْمُؤْمِنِيْنَ مِنْ اَنْفُسِهِمْ وَاَزْوَاجُهٗۤ اُمَّهٰتُهُمْ

၆။ နဗီတမန်တော်မြတ်သည် "မုအ်မင်န်" သက်ဝင်ယုံကြည်သူတို့နှင့် ၎င်းတို့ ကိုယ်တိုင်ထက်ပင် ပိုမို၍ *နီးစပ်၏။* [၁] ၎င်းပြင် ထိုနဗီတမန်တော်မြတ်၏ *ကြင်ရာတော်များသည် "မုအ်မင်န်" သက်ဝင်ယုံကြည်သူတို့၏ မိခင်များပင် ဖြစ်ကြကုန်၏။* [၂]

---

(၁) <u>တမန်တော်မြတ်၏ မြင့်မြတ်လှသော ဂုဏ်ရည်၊</u>

စဉ်းစားဆင်ခြင်ပါက မုအ်မင်န်တစ်ဦး ရရှိထားသော 'အီမာန်'ယုံကြည်မှုသည် 'နုဗုဝါတ်' တမန်တော်ဖြစ်မှုတည်းဟူသော သူရိယ၏ အရောင်ဟပ်မှုသာ ဖြစ်ကြောင်းကို သိရှိရပေသည်။ 'နုဗုဝါတ်'တည်းဟူသော သူရိယကား အခြားမဟုတ်၊ နဗီတမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)ပင်။ သို့ဖြစ်ရာ မုအ်မင်န်တစ်ဦးသည် (မုအ်မင်န်တစ်ဦးအနေဖြင့်) အကယ်၍ မိမိ၏ဖြစ်ရပ်မှန်ကို စဉ်းစားဆင်ခြင်လိုပါက မိမိ၏အီမာန်၊ ယုံကြည်မှုအလျင် တမန်တော်မြတ်အား သိရှိရပေမည်။ နဗီတမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)အား မသိရှိပါက မိမိ၏ယုံကြည်မှုကိုပင် သိရှိနိုင်မည်မဟုတ်ပေ။ ဤသို့ဖြင့် တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)သည် ရူဟာနီယတ် နာမ်ဝိညာဉ်သဘောအရ ကျွန်ုပ်တို့နှင့် ကျွန်ုပ်တို့ထက်ပင် ပို၍နီးစပ်တော်မူလျက် ရှိပေသည်။ ဤသည့်သဘောကို အကြောင်းပြု၍ "တမန်တော်မြတ်သည် မုအ်မင်န်တို့အဖို့ ဖခင်အရာ၌၊ သို့မဟုတ် ဖခင်၏အရာထက်ပင် ပိုမိုထူးကဲ မြင့်မြတ်သောအဆင့်၌ ရှိတော်မူသည်"ဟု ဆိုပါက လုံးဝမှန်ကန်သင့်မြတ်လှပေသည်။ တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်) ကိုယ်တော်တိုင်ကလည်း "မုချ ငါသည်အသင်တို့အဖို့ ဖခင်အရာ၌ဖြစ်သည်"ဟု အတည့်အလင်း မိန့်ကြားတော်မူခဲ့ပေသည်။

(ကြည့်-အဗူဒါဝူဒ်)။

သားနှင့်အဖ၏ ဆက်စပ်မှုကို စဉ်းစားဆင်ခြင်ပါလျှင် အချုပ်အားဖြင့် သားသည် ဖခင်၏ခန္ဓာကိုယ်မှ ဖြစ်ပေါ်လာသည်။ ဖခင်သည် မိမိ၏သားကို သူတပါးတို့ထက် ပြုစုသည်။သနားကြင်နာသည်။ ဤသို့ပင် တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)နှင့် နောက်လိုက်တပည့်သား၏ ဆက်စပ်မှုကို ဆင်ခြင်ရာသည်။ တပည့်သားတစ်ဦးကို တမန်တော်၏ ပြုစုမှု၊ သနားကြင်နာမှုသည် မိမိ၏သားကို ဖခင်တစ်ဦး၏ပြုစုမှု၊ သနားကြင်နာမှုထက် နိမ့်သည်မရှိ၊ နည်းသည်မရှိ၊ သာသည်သာဖြစ်ပေသည်။ တမန်တော်မြတ်၏ပြုစုမှု သနားကြင်နာမှုမျိုးကို မိဘများတွင် မဆိုထားနှင့်၊ စကြာဝဠာအဝှန်းရှိ အဖန်ဆင်းခံအားလုံးတို့၌ပင် မတွေ့ရှိရပေ။ အလ္လာဟ်အရှင်မြတ်သည် ကျွန်ုပ်တို့ကို ဖခင်များအား အကြောင်းပြု၍၊ ဤပစ္စက္ခဘဝတွင် ယာယီ အသက်ရှင်မှုကိုသာ ချီးမြှင့်ထားတော်မူသည်။ တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)အား အကြောင်းပြု၍ကား ကျွန်ုပ်တို့အား ထာဝရအသက်ရှင်မှုကို ချီးမြှင့်ထားတော်မူပေသည်။ သို့ဖြစ်ရာ တပည့်သားတစ်ဦး၏ ယုံကြည်မှုဆိုင်ရာ (ရူဟာနီယတ်) နာမ်ဝိညာဉ်သဘောဆိုင်ရာအဖြစ် အနေသည်၊ တမန်တော်မြတ်၏ (ရူဟာနီယတ်ကုဗ်ရာ) အကြီးဆုံးသော နာမ်ဝိညာဉ်သဘောဆိုင်ရာ အဖြစ်အနေ၏ အရိပ်အရောင်မျှသာဖြစ်သည်မှာ ထင်ရှားလှပေသည်။

ကျွန်ုပ်တို့အား တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်) ပြုစုတော်မူသကဲ့သို့၊ သနားကြင်နာတော်မူသကဲ့သို့ ကျွန်ုပ်တို့သည် မိမိတို့ကိုယ်ကို မိမိတို့ကိုယ်တိုင်ပင် မပြုစုနိုင်ကြပေ။ မသနား ➤➤

وَاُولُوا الْاَرْحَامِ بَعْضُهُمْ اَوْلٰى بِبَعْضٍ فِىْ كِتٰبِ اللّٰهِ مِنَ الْمُؤْمِنِيْنَ وَالْمُهٰجِرِيْنَ اِلَّآ اَنْ تَفْعَلُوْٓا اِلٰٓى اَوْلِيٰٓئِكُمْ مَّعْرُوْفًا ؕ كَانَ ذٰلِكَ فِى الْكِتٰبِ مَسْطُوْرًا ⑥

ထိုမှတပါး အလ္လာဟ်အရှင်မြတ်၏ကျမ်းဂန်၌ သွေးရင်းသားရင်း တော်စပ်သူတို့မှာ အချင်းချင်း တဦးနှင့်တဦး အခြား "မုအ်မင်န်" သက်ဝင်ယုံကြည်သူတို့ထက်လည်းကောင်း၊ "မုဟာဂျိရီန်" မိမိတို့၏အိုးအိမ်စည်းစိမ်များကိုစွန့်ကာ (မက္ကာမြို့မှ) ရွှေ့ပြောင်းခဲ့ကြကုန်သောသူတို့ထက်လည်းကောင်း၊ ပိုမို၍ နီးစပ်သူများ ဖြစ်ကြကုန်၏။ ² သို့ရာတွင် အသင်တို့သည် မိမိတို့၏ အဆွေခင်ပွန်းများအား တစုံတရာ ကျေးဇူးပြုလိုကြသည်ရှိသော် (ပြုနိုင်ခွင့်ရှိ၏။) ဤသည်ကား အလ္လာဟ်အရှင်မြတ်၏ မှတ်တမ်းတော်၌ ရေးသားပြီး ဖြစ်ချေသတည်း။

---

➤➤ မကြင်နာနိုင်ကြပေ။ ကျွန်ုပ်တို့အား တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်) အကျိုးပြုတော်မူသကဲ့သို့ ကျွန်ုပ်တို့သည် မိမိတို့ကိုယ်တိုင်ပင် အကျိုးမပြုနိုင်ကြပေ။ ထို့အတွက်ကြောင့်ပင် တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)၌ ကျွန်ုပ်တို့၏ အသက်နှင့် ဥစ္စာပစ္စည်းများတွင် ခြယ်လှယ်ပိုင်ခွင့်ရှိပေသည်။ ယင်းသည့် ခြယ်လှယ်ပိုင်ခွင့်သည် ကမ္ဘာ့အဝှန်းတွင် မည်သူ၌မျှပင်မရှိပေ။

ဤအာယတ်တော်ကို ထောက်ရှုခြင်းအားဖြင့် တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)၏ အတိုင်းမသိ မြင့်မြတ်လှသော ဂုဏ်ရည်၊ အဆင့်အတန်းကို သိရှိရသည်ဖြစ်ရာ ကျွန်ုပ်တို့သည် တမန်တော်မြတ်အား အနူးအညွတ် ရိုသေလေးစားကြရပေမည်။ တမန်တော်မြတ်၏ သြဝါဒများကို ဦးလည်မသုန်နာခံ၍ တမန်တော်မြတ် ချမှတ်တော်မူခဲ့သည့် လမ်းစဉ်များကိုဖဝါးခြေထပ် လိုက်နာကျင့်သုံးကြရပေမည်။

**② တမန်တော်မြတ်၏ ကြင်ရာတော်များ၏ အဆင့်အတန်း၊**

တမန်တော်မြတ်သည် (ရူဟာနီယတ်) နာမ်ဝိညာဉ်သဘောအရ နောက်လိုက်တပည့်သား မုစ်လင်မ်များ၏ဖခင် ဖြစ်တော်မူပေရာ တမန်တော်မြတ်၏ ကြင်ရာတော်များသည်လည်း မုစ်လင်မ်တို့၏ မိခင်များပင် ဖြစ်ကြပေသည်။ ၎င်းတို့အား အထူးရိုသေလေးစားကြရပေမည်။

လေးစားမှုများတွင် ထိမ်းမြားခြင်းမပြုပိုင်မှုလည်း ပါဝင်သည်ဖြစ်ရာ တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်) မရှိတော်မူသည့်နောက်၊ နောက်လိုက် တပည့်သားတို့အဖို့ ကြင်ရာတော်များနှင့် ထိမ်းမြားခြင်းသည် လုံးဝ ဟရာမ်ဖြစ်သည်။ အလျှင်းမပြုနိုင်ပေ။ ကြည့်-ကုရ်အာန် (၃၃း၅၃)။

လေးစားမှုများတွင် (ဟိဂျာဗ်) 'ပရ်ဒဟ်' ထားရှိခြင်းသည်လည်း ပါဝင်သည်ဖြစ်ရာ မုစ်လင်မ်တို့သည် ကြင်ရာတော်များနှင့်ဆက်ဆံရာတွင် 'ပရ်ဒဟ်'ကို အထူးရိုသေ လေးစားကြရပေမည်။

**③ သားချင်းအရင်းအခြာများ အမွေဆက်ခံပိုင်ခွင့်၊**

မက္ကာမြို့သား၊ကာဖိရ်များ၏ နှိပ်စက်ညှဉ်းပန်းမှုများ၊ တစ်နေ့တစ်ခြား ပိုမိုများပြား ပြင်းထန်လာသည့်အခါ မုစ်လင်မ်များသည် နောက်ဆုံးတွင် တမန်တော်မြတ်၏ ညွှန်ကြားချက်အရ မဒီနာမြို့သို့ ရွှေ့ပြောင်း➤➤

وَإِذْ أَخَذْنَا مِنَ النَّبِيِّنَ مِيثَاقَهُمْ وَمِنْكَ وَمِنْ نُّوحٍ وَّإِبْرٰهِيمَ وَمُوسٰى وَعِيسَى ابْنِ مَرْيَمَ ۖ وَأَخَذْنَا مِنْهُمْ مِّيثَاقًا غَلِيظًا ۙ ⑦

၇။ ၎င်းပြင် (ပြန်လည်သတိရပါလေ၊) တရံရောအခါဝယ် ငါအရှင်မြတ်သည် နဗီတမန်တော်တို့ထံမှ ပဋိညာဉ် ဝန်ခံချက်ကို ယူတော်မူခဲ့၏။ (ထိုတမန်တော်များတွင် အသင့်ထံမှလည်းကောင်း၊ "နူဟ်" ထံမှလည်းကောင်း၊ "အီဗ်ရာဟီမ်" ၏ထံမှလည်းကောင်း၊ "မူစာ" ၏ထံမှလည်းကောင်း၊ "မရ်ယမ်" ၏သားတော် "အီစာ" ၏ထံမှလည်းကောင်း၊ (ပဋိညာဉ်ဝန်ခံချက်ကို ယူတော်မူခဲ့၏)။ စင်စစ် ငါအရှင်မြတ်သည် ၎င်းတို့ထံမှ ခိုင်မာသော ဝန်ခံချက်ကို ယူတော်မူခဲ့၏။

لِّيَسْـَٔلَ الصّٰدِقِينَ عَنْ صِدْقِهِمْ ۚ وَأَعَدَّ لِلْكٰفِرِينَ عَذَابًا أَلِيمًا ⑧

၈။ (ယင်းကဲ့သို့ ပဋိညာဉ်ယူခဲ့တော်မူခြင်းမှာ) ထိုအရှင်မြတ်သည် သစ္စာဝါဒီတို့အား ("ကိယာမတ်" ရှင်ပြန်ထမည့်နေ့တွင်) ၎င်းတို့၏ သစ္စာရှိမှုနှင့်စပ်လျဉ်း၍ စစ်ဆေး မေးမြန်းတော်မူအံ့သောငှာ ဖြစ်ပေသည်။ စင်စစ်သော်ကား ထိုအရှင်မြတ်သည် "ကာဖိရ်" သွေဖည် ငြင်းပယ်ကြကုန်သော သူတို့အဖို့ ပြင်းပြနာကျင်ဖွယ်ဖြစ်သော ပြစ်ဒဏ်ကို အဆင်သင့် ပြုလုပ်၍ ထားရှိတော်မူပေသတည်း။ ၁

---

>> နေထိုင်ခဲ့ကြ၏။ သားကွဲ၊မယားကွဲ၊ ဆွေကွဲ၊မျိုးကွဲ၊ အိမ်မဲ့၊အိုးမဲ့ဖြစ်နေခဲ့ကြ၏။ စားဝတ်နေရေးတွင် ကသီလင်တ ဖြစ်နေခဲ့ကြ၏။ တမန်တော်မြတ်ကိုယ်တော်တိုင် နောက်ဆုံးတွင် မဒီနာမြို့သို့ ရွှေ့ပြောင်းလာပြီး ကသီလင်တ ဖြစ်နေရရှာသော မွတ်စလင်မ်တို့အား တွေ့မြင်တော်မူသည့်အခါ မက္ကာမြို့မှ ရွှေ့ပြောင်းလာသော 'မုဟာဂျိရ်' များနှင့် မဒီနာမြို့ခံ 'အန်ဆွာရ်'များ စပ်ကြားတွင် 'မုဝါခါတ်' ညီနောင်ဖွဲ့ပေးတော်မူခဲ့လေသည်။

① **အဟ်ဇာဗ်စစ်ပွဲ**

'နသွီရ်' မျိုးနွယ်စုသည် မဒီနာမြို့မှ နယ်နှင်ဒဏ်ခံရပြီး၊ 'ခိုင်ဗရ်'သို့ ရောက်သွားသည့်အခါ အစ္စလာမ်ကို လုံးဝချေမှုန်းရန် အကြီးအကျယ် ကြံစည်အားထုတ်လာခဲ့၏။ ထိုမျိုးနွယ်စု၏ ခေါင်းဆောင်များဖြစ်သော စလာမ် အစ်ဗ်နု အဗီဟုကိုက်၊ ဟိုင်ယ် အစ်ဗ်နုအခ်တွာဗ်၊ ကိနာနဟ်၊ အစ်ဗ်နုရဗီအ်စသည်တို့သည် မက္ကာမြို့သို့ ရောက်ရှိလာပြီး ကုရိုက်ရှ်မျိုးနွယ်ဝင်များအား စည်းရုံးခဲ့ကြ၏။ ကုရိုက်ရှ်မျိုးနွယ်ဝင်များသည် အစ္စလာမ်ကိုချေမှုန်းရန် ယခင်ကတည်းကပင် စိတ်ဓာတ်ပြင်းပြနေခဲ့ကြ၏။ ထို့နောက် အဆိုပါခေါင်းဆောင်များသည် 'ဃတ်ဖာန်' မျိုးနွယ်စုကိုလည်း 'ခိုင်ဗရ်' နယ်ထွက်ပစ္စည်းများ ထက်ဝက်ပေးမည်ဟု လာဘ်ပေးပြီး သိမ်းသွင်းခဲ့ကြ၏။ ဗနူအစဒ်မျိုးနွယ်သည်လည်း ဃတ်ဖာန်မျိုးနွယ်၏ မဟာမိတ်ဖြစ်သည့်အလျောက် အစ္စလာမ်ချေမှုန်းရေးတွင် >>

➤➤ ပါဝင်လာခဲ့၏။ စုလိုင်မ်မျိုးနွယ်သည်လည်း ကုရိုက်ရှ်မျိုးနွယ်နှင့် နီးစပ်သည့်အလျောက် အစ္စလာမ် ချေမှုန်းရေးတွင် ပါဝင်လာခဲ့၏။ ထို့အတူ ဗနူအစဒ်မျိုးနွယ်သည်လည်း ယဟူဒီများ၏ မဟာမိတ်ဖြစ်သည့် အလျောက် ပါဝင်လာခဲ့၏။ ဤသို့ဖြင့် ယဟူဒီများနှင့်အရဗ်မျိုးနွယ်စု အားလုံးလိုလိုပင် အချင်းချင်းစည်းရုံးမိပြီး၊ မဟာမိတ်တပ်မတော်ကြီးဖွဲ့ကာ အစ္စလာမ်ကို ချေမှုန်းရန်အကြံနှင့် အရပ်လေးမျက်နှာမှ မဒီနာမြို့သို့ ဦးတည်ချီတက်လာခဲ့ကြ၏။ အဆိုပါ မဟာမိတ်တပ်မတော်၏ ဦးစီးဗိုလ်ချုပ်မှာ အဗူစွဖ်ယာန် အစ်ဗ်နုဟာရ်ဗ်ဖြစ်ခဲ့၏။

တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် အထက်ဖော်ပြပါ ကာဖိရ်များ၏ အကြံ အစည်ကို သိတော်မူသည့်အခါ မိမိ၏ဆွဟာဗဟ် သာဝကကြီးများနှင့် တိုင်ပင်တော်မူ၏။ ထိုအခါ ပါရှားမြို့သား သာဝကကြီး စလ်မာန်ဖာရိစီက "ဤအရေးတွင် မြို့ပြင်ထွက်ပြီး ကွင်းပြင်၌ ခုခံတိုက်ခိုက်ရန်မသင့်၊ ကျုံးတူးပြီး ခုခံတိုက်ခိုက်ရန် သင့်ပါသည်"ဟု အကြံပေးခဲ့၏။

'ခန်ဒတ်က်' ဟူသောပုဒ်သည် 'ကန်ဒဟ်'ဟူသော ပါရှားစကားပင်ဖြစ်သည်။ 'ကန်ဒဟ်'ဟူသော ပါရှားစကားသည် အရဗီစာပေတွင် 'ခန်ဒတ်က်'ဟူ၍ ဖြစ်လာခဲ့၏။ 'ကန်ဒဟ်'ဟူသော ပုဒ်၏အနက်မှာ တူးထားသောအရာ (ဝါ) ကျုံးဟူ၍ဖြစ်သည်။ ဤသည်ကို အကြောင်းပြု၍ ဤစစ်ပွဲကို 'ခန်ဒတ်က်' စစ်ပွဲဟုလည်း ခေါ်ဆိုကြသည်။

တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်) နှင့်တကွ သာဝကကြီးများသည် သာဝကကြီး စလ်မာန်ဖာရိစီ၏ အကြံပေးချက်ကို လက်ခံသဘောတူပြီး ကျုံးကို စတင်တူးခဲ့ကြ၏။ ထိုနေ့မှာ ဟိဂျ်ရီသက္ကရာဇ် (၅)ခုနှစ်၊ ဇီကအ်ဒဟ်လ (၈)ရက်နေ့ဖြစ်သည်။

ကျုံးတူးရန်အတွက် တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်) ကိုယ်တော်တိုင် နေရာများကို သတ်မှတ်ပေးတော်မူ၏။ ကျုံးတူးရာတွင် (၁၀) ယောက်တတွဲ အဖွဲ့များဖွဲ့ပေးပြီး (၁၀)ကိုက်စီ တူးစေတော်မူခဲ့၏။ ကျုံး၏အနက်မှာ (၅)ကိုက်ဖြစ်ခဲ့သည်။ သာဝကကြီး (၃၀၀၀)သည် အဆိုပါကျုံးကို တူးရာတွင် ရက်ပေါင်း(၂၀) ကြာခဲ့ကြ၏။ ဤကျုံးကို မဒီနာမြို့၏မြောက်ဘက် (အနောက်သို့ အနည်းငယ်ယွန်းသည့်ဘက်)တွင် တူးဖော်ခဲ့ခြင်း ဖြစ်သည်။ ကျုံး၏အလျားမှာ သုံးမိုင်ခွဲခန့်ဖြစ်သည်။ (မာဂျိဒီ)။

တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် မဒီနာမြို့တွင် မတ်စ်ဂျိဒ်နဗဝီကို တည်ဆောက် ရာတွင် ကိုယ်တော်တိုင် ပါဝင်လုပ်အားပေးတော်မူသကဲ့သို့ ဤကျုံးတူးရာတွင်လည်း ပါဝင်လုပ်အားပေးတော် မူခဲ့လေသည်။ အချိန်ကား ဆောင်းရာသီဖြစ်ခဲ့၏။ စားနပ်ရိက္ခာကား အဆင်မပြေခဲ့၊ သာဝကကြီးများသည် တခါတခါသော် သုံးရက်အထိ နပ်ကျော်ထမင်းစား၍ နေခဲ့ကြရ၏။

တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် 'စလအ်'တောင်ကို ကျောထောက်နောက်ခံ ထားပြီး မုစ်လင်မ်စစ်သည်တို့အား နေရာချထားပေးတော်မူခဲ့၏။ အမျိုးသမီးများအား မြို့တွင်းရှိလုံခြုံသော ရဲတိုက်များတွင် နေရာချထားပေးတော်မူခဲ့၏။ စစ်ပွဲဖြစ်ပွားနေစဉ် နောက်ကျောမှ ကုရိုက်ရှ်မျိုးနွယ်ဝင်များ ဝင်ရောက် တိုက်ခိုက်မည်ကို စိုးရိမ်ရသည့်အတွက် တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် သာဝကကြီး စလမဟ် အစ်ဗ်နအတ်စ်လမ်အား စစ်သည် (၂၀၀)နှင့်အတူ အစောင့်ချထားတော်မူခဲ့၏။

ကုရိုင်ဇာဟ်မျိုးနွယ်ဝင် ယဟူဒီများသည် တမန်တော်မြတ်နှင့် ချစ်ကြည်ရေးစာချုပ် ချုပ်ဆိုထားခဲ့ကြသည့် အလျောက် ပထမသော် ကာဖိရ်မဟာမိတ်များတွင် မပါဝင်ခဲ့ကြပေ။ သို့တစေလည်း နသ္ဝိရ်မျိုးနွယ်၏ခေါင်းဆောင် ဟွတ်ယ်အစ်ဗ်န အခ်တွာဗ်၏ ကြိုးစားမှုကြောင့် ကုရိုင်ဇာဟ်မျိုးနွယ်ဝင်များသည်လည်း နောက်ဆုံးတွင် မိမိတို့၏ ချစ်ကြည်ရေးစာချုပ်ကို ဖောက်ဖျက်ပြီး ကာဖိရ်မဟာမိတ်များနှင့် ပူးပေါင်းသွားခဲ့ကြလေသည်။ မုစ်လင်မ် ➤➤

➤➤ စစ်သည်များတွင် (မုနာဖစ်က်) အရေခြုံများသည်လည်း ရှိနေခဲ့ကြ၏။ ဥတုရာသီကား မကောင်း၊ စားနပ်ရိက္ခာကား မလုံလောက်၊ မုစ်လင်မ်စစ်သည်များသည် နေ့စဉ်နှင့်အမျှ အငတ်ပြဿနာနှင့် ရင်ဆိုင်နေခဲ့ကြရ၏။ ညစဉ်ညဆက် အိပ်ရေးပျက်ခဲ့ကြရ၏။ ရန်သူစစ်သည်အင်အားကား အဆမတန် ကြီးမားများပြား၏။ မုနာဖစ်က်များသည် ဤသည့်အခြင်းအရာများကို တွေ့မြင်ကြရသောအခါ မိမိတို့၏ အရေခြုံမှုကိုပင် ဖုံးဖိမထားနိုင်ကြတော့ပဲ "နောက်ပိုင်းတွင် အိုးအိမ်များမလုံပါ"ဟု လိမ်လည်အကြောင်း ပြကာ၊ စစ်မြေပြင်မှ အိမ်သို့ပြန်ရန် တမန်တော်မြတ်ထံ ခွင့်ပန်ခဲ့ကြ၏။ မုနာဖစ်က်များသည် ယင်းသည့်အခြေအနေမျိုးတွင် သစ္စာဖောက် သွားခဲ့ကြသော်လည်း အီမာန် ယုံကြည်မှု ရင့်ကျက်သော မုအ်မင်န်တို့မှာမူကား အနည်းငယ်စိုးစဉ်းမျှ တုန်လှုပ် ခြောက်ခြားခြင်း မရှိခဲ့ကြသည် သာမက ယုံကြည်မှုသည်ပင် ပိုမိုရင့်ကျက် ခိုင်မြဲလာခဲ့ကြပေသည်။

ကာဖိရ်များသည် မဒီနာမြို့ကို တစ်လနီးပါး ဝိုင်းဝန်းထားခဲ့ကြ၏။ မုစ်လင်မ်များသည် အငတ်ပြဿနာနှင့် ရင်ဆိုင်နေခဲ့ကြရ၏။ ကာဖိရ်များသည် ကျုံးကိုကျော်နိုင်ခဲ့ ကြသည်လည်းမရှိ။ မုစ်လင်မ်များသည် ကာဖိရ်များအား မောင်းထုတ်နိုင်ခဲ့သည်လည်းမရှိ။ ထိုသည့်အခြေအနေတွင် တစ်နေ့သော် သာဝကကြီးများက စားနပ်ရိက္ခာ ပြတ်သည့်အတွက်၊ မိမိတို့၏ဝမ်းဗိုက်များတွင် ချည်ထားသော ကျောက်ခဲများကို တမန်တော်မြတ်အား ပြကြရာ တမန်တော်မြတ်က မိမိဝမ်းဗိုက်တွင်ချည်ထားသော ခဲနှစ်လုံးကိုပြတော်မူလိုက်လေသည်။

ကာဖိရ် စစ်သည်များသည် ကျုံးကို မကျော်နိုင်ကြသည့်အတွက် အဝေးမှပင် မြားမိုး၊ ခဲမိုးများ ရွာသွန်းချနေကြ၏။ မုစ်လင်မ်စစ်သည်များသည် ကျုံးကိုအကာအကွယ်ယူ၍ ခုခံနေခဲ့ကြ၏။ ဤသို့ဖြင့် နေ့အတော်ကြာညောင်းလာခဲ့၏။ သို့တစေလည်း ရန်သူများသည် ကျုံးကိုမကျော်နိုင်ခဲ့ကြပေ။

နောက်ဆုံးတွင် ရန်သူများသည် တပြိုင်တည်း စုပေါင်း၍တိုက်ခိုက်ရန် ဆုံးဖြတ်လိုက်ကြ၏။ အကြောင်းအားလျော်စွာ ကျုံးတစ်နေရာတွင် အနံအနည်းငယ် ကျဉ်းနေ၏။ ရန်သူများသည် အခွင့်ကောင်းရပြီး ထိုနေရာတွင် စုပေါင်း၍ တိုက်ခိုက်ကြလေတော့၏။ ရန်သူစစ်ဗိုလ်များသည် မြင်းများကို ကျုံးတွင်းသို့ အတင်းအဓမ္မ မောင်းနှင်ချခဲ့ကြ၏။ အကြောင်းအားလျော်စွာ ရန်သူစစ်ဗိုလ်များတွင် မြင်းစီးသူရဲတစ်ထောင် (၁၀၀၀)နှင့်ညီမျှသော အာရေဗျတိုင်းပြည်တွင် သတ္တိဗလဌ် အထူးကျော်ကြားသော စစ်သူကြီး အမ်ရ်အစ်ဗ်နုဝဒ္ဒသည် ကျုံးကို ဖြတ်ကျော်လာခဲ့၏။ သို့ကျုံးကိုဖြတ်ကျော်လာ နိုင်ခဲ့သော်လည်း နောက်ဆုံးတွင် အမ်ရ်အစ်ဗ်နုဝဒ္ဒသည် သာဝကကြီးအလီ (ရဿေယလ္လာဟုအန်ဟု)၏ဓားချက်ဖြင့် မရှုမလှသေဆုံးသွားခဲ့ရ၏။ ထိုနေ့သည် အပြင်းထန်ဆုံးနေ့ ဖြစ်ခဲ့၏။ နှစ်ဘက်တိုက်ခိုက်မှု ပြင်းထန်လှသည့်အတွက် တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည်ပင် ဆွလာတ်လေးကြိမ်တိုင်တိုင် ဆောက်တည်တော် မမူနိုင်ခဲ့ပေ။

ရန်သူများသည် နေ့ရက်ကြာညောင်း လာသည်နှင့်အမျှ စိတ်ဓာတ်ကျဆင်းလာခဲ့ကြ၏။ စစ်သည် တသောင်း(၁၀၀၀၀)၏ ရိက္ခာပြဿနာနှင့် ချက်ပြုတ်ရေးမှာ လွယ်ကူလှသည်မဟုတ်၊ ဥတုရာသီက မကောင်း၊ ထိုသည့် အခြေအနေမျိုးတွင် အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်ဖြင့် မုန်တိုင်းကျလာခဲ့၏။ ရန်သူများ၏ တဲများ ပြိုလဲခဲ့ကုန်၏။ အိုးခွက်များ မှောက်ကုန်ခဲ့၏။ ထိုသည့်အထဲ အစ္စလာမ်ကို လျှို့ဝှက်စွာ လက်ခံယုံကြည်ထားသော နအီမ်အစ်ဗ်န မဘ်အူဒ်အရှ်ဂျအီ၏ ပရိယာယ်စကားကြောင့် ကုရိုင်ရှ်ဗာဟ်မျိုးနွယ်နှင့် အခြားကာဖိရ်များစပ်ကြားတွင် သံသယဖြစ်ပေါ်လာခဲ့၏။ အဆိုပါ အကြောင်းများကြောင့် ကာဖိရ်စစ်သည်များသည် ရပ်တည်မနေနိုင်ကြတော့ပဲ နောက်ဆုံးတွင် ကာဖိရ်တို့၏ စစ်ဦးစီးချုပ် အဗူစွဖ်ယာန်က 'စားနပ်ရိက္ခာကုန်ပြီ၊ ရာသီဥတုမှာ မကောင်း၊ ကုရိုင်ဇွာဟ် မျိုးနွယ်ဝင်များသည် တပ်ခေါက်၍ ပြန်သွားကြပြီ ထို့အတွက် ဆက်လက်တိုက်ခိုက်ခြင်းဖြင့် အကျိုးမမြင်' ဟုဆိုကာ တပ်ခေါက်ရန် အမိန့်ပေးခဲ့လေသည်။➤➤

يَٰٓأَيُّهَا ٱلَّذِينَ ءَامَنُواْ ٱذۡكُرُواْ نِعۡمَةَ ٱللَّهِ عَلَيۡكُمۡ إِذۡ جَآءَتۡكُمۡ جُنُودٞ فَأَرۡسَلۡنَا عَلَيۡهِمۡ رِيحٗا وَجُنُودٗا لَّمۡ تَرَوۡهَاۚ وَكَانَ ٱللَّهُ بِمَا تَعۡمَلُونَ بَصِيرًا ٩

၉။ အို-"မုအ်မင်န်" သက်ဝင်ယုံကြည်သူ အပေါင်းတို့၊ အသင်တို့သည် မိမိတို့အပေါ်၌ အလ္လာဟ်အရှင်မြတ် (ပြုတော်မူခဲ့သော) ကျေးဇူးတော်ကို ပြန်လည် သတိရရှိကြလေကုန်။ အခါတပါး၌ အသင်တို့ထံသို့ များစွာသော စစ်တပ်များသည် (တိုက်ခိုက်ရန်) ချီတက်၍ လာခဲ့ကြကုန်၏။ ထို့နောက် ငါအရှင်မြတ်သည်စစ်တပ်များအပေါ်၌ လေပြင်းတခုကိုလည်းကောင်း၊ အသင်တို့ *မမြင်ကြရသော စစ်တပ်များကိုလည်းကောင်း*၊ [၁] စေလွှတ်တော်မူခဲ့၏။ အမှန်သော်ကား အလ္လာဟ်အရှင်မြတ်သည် အသင်တို့ ပြုလုပ်လျက်ရှိခဲ့ကြသည်တို့ကို ကောင်းစွာ ရှုမြင်တော်မူသော အရှင်မြတ်ပင်ဖြစ်တော်မူ၏။

إِذۡ جَآءُوكُم مِّن فَوۡقِكُمۡ وَمِنۡ أَسۡفَلَ مِنكُمۡ وَإِذۡ زَاغَتِ ٱلۡأَبۡصَٰرُ وَبَلَغَتِ ٱلۡقُلُوبُ ٱلۡحَنَاجِرَ وَتَظُنُّونَ بِٱللَّهِ ٱلظُّنُونَا۠ ١٠

၁၀။ အကြင်အခါဝယ် ထိုစစ်တပ်များသည် အသင်တို့၏ အထက်ဘက်မှလည်းကောင်း၊ အသင်တို့၏ အောက်ဘက်မှလည်းကောင်း၊ (စုရုံး) ချီတက်လာခဲ့ကြကုန်၏။ ထိုမှတပါး အကြင်အခါဝယ် မျက်စိများသည် (ကြောက်ရွံ့ထိတ်လန့်မှုကြောင့်) ပြူး၍ သွားခဲ့ကြကုန်၏။ ထို့ပြင် နှလုံးများမှာလည်း လည်မျိုသို့ ရောက်ရှိ၍ သွားခဲ့ကြ၏။ ထိုမှတပါး အသင်တို့သည် အလ္လာဟ်အရှင်မြတ်အပေါ်၌ အမျိုးမျိုးသောထင်မြင်ယူဆချက်များကို ထင်မြင်ယူဆခဲ့ကြကုန်သတည်း။

---

➤➤ ဤသို့ဖြင့် ရန်သူများသည် အကြံအစည်မအောင်မြင်ပဲ တပ်လန့်သွားခဲ့ကြလေသည်။ မဒီနာမြို့သည်လည်း အလ္လာဟ်အရှင်မြတ် ၏ကျေးဇူးတော်ဖြင့် ရက်ပေါင်း (၂၀)(၂၂)ရက်တိုင်တိုင် ရန်သူများ၏ ဝိုင်းဝန်းတိုက်ခိုက်ခြင်းကို ခံရပြီးနောက်တွင် ရန်သူတို့၏စစ်ဘေးမှ လွတ်မြောက်သွားခဲ့လေသည်။

ကြည့်-စီရတွန္နဗီ၊ အတွဲ-၁။ စ-(၄၁၉-၄၃၃)။

ဤအကြောင်းကိုပင် ကုရ်အာန် (၃၃း၉-၂၇)တွင် မိန့်ဆိုထားတော်မူသည်။

(၁) ဤအာယတ်တော်တွင် "အသင်တို့ မမြင်ကြရသော စစ်တပ်များ"ဟူသည် ကောင်းကင်တမန်များကို ဆိုလိုသည်။ ယင်းကောင်းကင်တမန်များကား ကာယကံမြောက် တိုက်ခိုက်ရန်မဟုတ်၊ ကာဖိရ်များ၏ စိတ်နှလုံးများကို ချောက်ချားစေရန်အတွက်သာ စေလွှတ်တော်မူခြင်းဖြစ်သည်။ (ကြည့်-ထာနဝီ)

هُنَالِكَ ابْتُلِيَ الْمُؤْمِنُوْنَ وَزُلْزِلُوْا زِلْزَالًا شَدِيْدًا ﴿١١﴾

၁၁။ ထိုရောအခါဝယ် "မုအ်မင်န်" သက်ဝင်ယုံကြည်သူတို့မှာ စမ်းသပ်ခြင်း ခံခဲ့ကြရသည့်ပြင်၊ ပြင်းထန်စွာ တုန်လှုပ်ချောက်ချားစေခြင်းကိုလည်း ခံခဲ့ကြရကုန်၏။

وَاِذْ يَقُوْلُ الْمُنٰفِقُوْنَ وَالَّذِيْنَ فِيْ قُلُوْبِهِمْ مَّرَضٌ مَّا وَعَدَنَا اللّٰهُ وَرَسُوْلُهٗٓ اِلَّا غُرُوْرًا ﴿١٢﴾

၁၂။ ထိုမှတပါး အကြင်အခါဝယ် "မုနာဖစ်က်" အယောင်ဆောင်မုစ်လင်မ်များနှင့် စိတ်နှလုံးများတွင် ရောဂါရှိသူတို့က "အလ္လာဟ်အရှင်မြတ်သည်လည်းကောင်း၊ ထိုအရှင်မြတ်၏ရစူလ်တမန်တော်သည်လည်းကောင်း၊ ကျွန်ုပ်တို့အား ဖြားယောင်းခြင်းမှ တပါး မှန်ကန်သော ကတိကို ပေးခဲ့ကြသည်မဟုတ်" ဟု ပြောဆိုလျက် ရှိခဲ့ကြကုန်၏။

وَاِذْ قَالَتْ طَّآئِفَةٌ مِّنْهُمْ يٰٓاَهْلَ يَثْرِبَ لَا مُقَامَ لَكُمْ فَارْجِعُوْا ۚ وَيَسْتَاْذِنُ فَرِيْقٌ مِّنْهُمُ النَّبِيَّ يَقُوْلُوْنَ اِنَّ بُيُوْتَنَا عَوْرَةٌ ۛؕ وَمَا هِيَ بِعَوْرَةٍ ۚۛ اِنْ يُّرِيْدُوْنَ اِلَّا فِرَارًا ﴿١٣﴾

၁၃။ ၎င်းပြင် အကြင်အခါဝယ် ထိုသူတို့အနက် လူတစုက *"အိုယတ်ဆရစ်ဗ်" မြို့သားတို့၊*[၁] အသင်တို့အဖို့ ရပ်တည်ရာဌာနဟူ၍ အလျှင်းမရှိပြီဖြစ်ရာ အသင်တို့သည် ပြန်သွားကြကုန်လော့" ဟု ပြောဆိုခဲ့ကြကုန်၏။ ထိုမှတပါး ၎င်းတို့အနက် လူတစုသည် "ကေန်အမှန် ကျွန်ုပ်တို့၏အိမ်များမှာ လုံခြုံမှုမရှိပါ" ဟုပြောဆိုကာ နဗီတမန်တော်မြတ်ထံမှ ခွင့်ပန်လျက် ရှိကြကုန်၏။ စင်စစ်သော်ကား ယင်းအိမ်များမှာ လုံခြုံမှု ကင်းမဲ့စွာ ရှိနေကြသည် မဟုတ်ပေ၊ ၎င်းတို့မှုကား ထွက်ပြေးရန်သာ ကြံရွယ်နေကြကုန်သတည်း။

---

(၁) **"ယတ်ဆရစ်ဗ်။"**

ယတ်ဆရစ်ဗ်သည် မဒီနာမြို့၏ ရှေးအမည်ဖြစ်သည်။ အဆိုပါမြို့သို့ တမန်တော်မြတ် (ဆွလ္လလ္လာဟုအလိုင်ဟိဝစလ္လမ်) ရွှေ့ပြောင်းနေထိုင်တော်မူသည့်အခါ အဆိုပါမြို့ကို 'မဒီနတွန္နဗီ' တမန်တော်၏မြို့ဟု ခေါ်ဆိုခဲ့ကြ၏။ ထို့နောက် မဒီနတွန္နဗီကို အတိုကောက်အားဖြင့် မဒီနဟ်ဟူ၍သာ ခေါ်ဆိုခဲ့ကြလေသည်။

وَلَوْ دُخِلَتْ عَلَيْهِمْ مِّنْ
اَقْطَارِهَا ثُمَّ سُئِلُوا الْفِتْنَةَ
لَاٰتَوْهَا وَمَا تَلَبَّثُوْا بِهَآ
اِلَّا يَسِيْرًا ﴿١٤﴾

၁၄။ စင်စစ်သော်ကား ၎င်းတို့ထံ ယင်း "ယတ်ဆရစ်ဗ" မြို့၏ ဘေးပတ်ဝန်းကျင်များမှ (ကာဖိရ်စစ်သည်တို့သည်) ဝင်ရောက်ခဲ့ကြသော် ထို့နောက် ၎င်းတို့သည် ဖျက်ဆီးမှုပြုရန် (မုစ်လင်မ်တို့နှင့် တိုက်ခိုက်ရန်) တောင်းဆိုခြင်းကို ခံခဲ့ကြရသော် ၎င်းတို့သည် ထိုအိမ်များ၌ အနည်းငယ်မျှသာ ဆိုင်းငံ့ပြီး ရုတ်တရက် ချက်ချင်းပင်လျှင် ယင်းဖျက်ဆီးမှု (တိုက်ခိုက်မှု)ကို အမှန်ပင်လက်ခံပြုလုပ်ကြမည်သာ၊[၁]

وَلَقَدْ كَانُوْا عَاهَدُوا اللّٰهَ مِنْ
قَبْلُ لَا يُوَلُّوْنَ الْاَدْبَارَ ۗ وَكَانَ
عَهْدُ اللّٰهِ مَسْـُٔوْلًا ﴿١٥﴾

၁၅။ မချွတ်မလွဲ ၎င်းတို့သည် ရှေးဦးမဆွက "ကျောခိုင်း၍ထွက်ပြေးကြမည်မဟုတ်ပါ" ဟု အလ္လာဟ် *အရှင်မြတ်နှင့် ကတိထားခဲ့ပြီး ဖြစ်ကြကုန်၏။*[၂] အမှန်သော်ကား အလ္လာဟ်အရှင်မြတ်နှင့်ထားခဲ့သော ကတိဝန်ခံချက်မှာ စစ်ဆေးမေးမြန်းခံရအံ့သော ကတိဝန်ခံချက်ပင် ဖြစ်ချေသည်။

قُلْ لَّنْ يَّنْفَعَكُمُ الْفِرَارُ اِنْ
فَرَرْتُمْ مِّنَ الْمَوْتِ اَوِ الْقَتْلِ
وَاِذًا لَّا تُمَتَّعُوْنَ اِلَّا قَلِيْلًا ﴿١٦﴾

၁၆။ အို-နဗီတမန်တော်၊ အသင်သည် ပြောကြားပါလေ၊ ("အို-အချင်းတို့၊) အကယ်၍ အသင်တို့သည် သေဘေးမှသော်လည်းကောင်း၊ အသတ်ခံရမည့်ဘေးမှသော်လည်းကောင်း၊ ထွက်ပြေးခဲ့ကြလေသော် အသင်တို့အား ယင်းထွက်ပြေးခြင်းသည် အလျှင်း အကျိုးရှိစေမည်မဟုတ်ပေ။ ၎င်းပြင် ထိုအခါ အသင်တို့သည် (ထွက်ပြေးခြင်းဖြင့်) အနည်းငယ်မျှမှအပ အကျိုးခံစားရမည်လည်း မဟုတ်ပေ"

---

(၁) မုနာဖစ်က်များသည် အခြေအနေအရ မုစ်လင်မ်များနှင့် ပူးပေါင်းနေကြသော အရေခြုံအခွင့်အရေးသမားများ သစ္စာဖောက်များသာ ဖြစ်ကြပေသည်။ ၎င်းတို့သည် မုစ်လင်မ်တို့၏ကောင်းကျိုးကို စိုးစဉ်းမျှပင်မလိုလားကြပေ။ ရန်သူနှင့် ရင်ဆိုင်တိုက်ပွဲဖြစ်နေသည့် အချိန်မျိုးမှာပင် "အိုးအိမ်မလုံ"ဟု လိမ်လည် အကြောင်းပြကာ စစ်မြေပြင်မှပင် ပြန်သွားကြသည်။ မုနာဖစ်က်များသည် မြို့တွင်း၌ရှိနေကြခိုက် အကယ်တန္တု ရန်သူများ ဝင်လာကြပြီး၊ ၎င်းတို့အား ၎င်းတို့အမြင်အားဖြင့် လက်ခံထားကြသော အစ္စလာမ်ကို စွန့်လွှတ်ရန်၊ သို့မဟုတ် မုစ်လင်မ်တို့နှင့် ပြိုင်ဆိုင်တိုက်ခိုက်ရန် ဆူပူသောင်းကျန်းရန် တောင်းဆိုကြပါက၊ ယင်းမုနာဖစ်က်များသည် ထိုသည့် ➤➤

قُلْ مَنْ ذَا الَّذِي يَعْصِمُكُم مِّنَ اللَّهِ إِنْ أَرَادَ بِكُمْ سُوءًا أَوْ أَرَادَ بِكُمْ رَحْمَةً ۚ وَلَا يَجِدُونَ لَهُم مِّن دُونِ اللَّهِ وَلِيًّا وَلَا نَصِيرًا ﴿١٧﴾

၁၇။ အို-နဗီတမန်တော်၊ အသင်သည် ပြောကြားပါလေ၊ (အချင်းတို့) အကယ်၍သာ အလ္လာဟ်အရှင်မြတ်သည် အသင်တို့နှင့် ပတ်သက်၍ ဘေးအန္တရာယ်တစုံတရာကို ရည်စူးတော်မူခဲ့သည်ရှိသော် မည်သူသည် အသင်တို့အား ထိုအရှင်မြတ်၏(ပြစ်ဒဏ်)မှ ကာကွယ်စောင့်ရှောက်နိုင်အံ့နည်း။ သို့တည်းမဟုတ် ထိုအရှင်မြတ်သည် အသင်တို့နှင့် ပတ်သက်၍ ကျေးဇူးတစုံတရာကို ရည်စူးတော်မူခဲ့ပါလျှင် (မည်သူသည် ဗိတ်ပင်တားဆီးနိုင်အံ့နည်း)။

ထိုမှတပါး ၎င်းတို့သည် အလ္လာဟ်အရှင်မြတ်အပြင် မိမိတို့အဖို့ ကူညီအားပေးသူတစ်ဦးတစ်ယောက်ကိုမျှလည်း တွေ့ရှိကြမည် မဟုတ်ပေ။ ကာကွယ်သူတဦးတယောက်ကိုမျှလည်း တွေ့ရှိကြမည် မဟုတ်ပေတကား။

قَدْ يَعْلَمُ اللَّهُ الْمُعَوِّقِينَ مِنكُمْ وَالْقَائِلِينَ لِإِخْوَانِهِمْ هَلُمَّ إِلَيْنَا ۖ وَلَا يَأْتُونَ الْبَأْسَ إِلَّا قَلِيلًا ﴿١٨﴾

၁၈။ အမှန်စင်စစ် အလ္လာဟ်အရှင်မြတ်သည် အသင်တို့အနက် နှောင့်ယှက် တားဆီးကြသောသူတို့အားလည်းကောင်း၊ မိမိတို့၏ညီအစ်ကိုများအား "အသင်တို့သည် ကျွန်ုပ်တို့ထံလာခဲ့ကြကုန်လော့" ဟု ပြောဆိုကြကုန်သော သူတို့အားလည်းကောင်း၊ ကောင်းစွာသိရှိတော်မူ၏။ စင်စစ်သော်ကား ၎င်းတို့သည် အမည်ခံအားဖြင့်သာလျှင် စစ်တိုက်ရာသို့ လာကြကုန်၏။

---

➤➤ တောင်းဆိုချက်များကို မဆိုင်းမတွလိုက်နာ ဆောင်ရွက်ကြမည်သာ ဖြစ်သည်။ ဤသည်ကို ထောက်ရှုခြင်းအားဖြင့် မုနာဖစ်က်များ ၏ အကြောင်းပြချက်မှာ လိမ်လည်မှုသာဖြစ်ကြောင်း၊ ၎င်းတို့သည် ကာဖိရ်များနှင့် တစိတ်တလက်တည်းပင် ဖြစ်ကြောင်း မှစ်လင်မ်များကို မှန်းတီးကြောင်း ကောင်းစွာသိနိုင်ပေသည်။

(၂) 'အုဟွဒ်' စစ်ပွဲဖြစ်ပွားပြီးနောက်တွင် မုနာဖစ်က်များက "ကျွန်ုပ်တို့သည် နောက်နောင်စစ်မြေပြင်မှ ကျောခိုင်း ထွက်ခွာသွားကြမည် မဟုတ်ပါ"ဟု အတိအလင်း ဝန်ခံကတိပြုခဲ့ကြပေသည်။ သို့တစေလည်း မုနာဖစ်က်များသည် အရေခြုံပီပီ သစ္စာဖောက်မြဲ ဖောက်ကြသည်သာ။

أَشِحَّةً عَلَيْكُمْ ۖ فَإِذَا جَاءَ
الْخَوْفُ رَأَيْتَهُمْ يَنْظُرُونَ
إِلَيْكَ تَدُورُ أَعْيُنُهُمْ
كَالَّذِي يُغْشَىٰ عَلَيْهِ مِنَ
الْمَوْتِ ۖ فَإِذَا ذَهَبَ الْخَوْفُ
سَلَقُوكُمْ بِأَلْسِنَةٍ حِدَادٍ
أَشِحَّةً عَلَى الْخَيْرِ ۚ أُولَٰئِكَ لَمْ
يُؤْمِنُوا فَأَحْبَطَ اللَّهُ أَعْمَالَهُمْ ۚ
وَكَانَ ذَٰلِكَ عَلَى اللَّهِ يَسِيرًا ١٩

၁၉။ အသင်တို့အပေါ်၌ တွန့်တိုကြလျက် တဖန် စိုးရိမ်မှုတစုံတရာ ပေါ်ပေါက်လာခဲ့သည်ရှိသော် ၎င်းတို့သည် သေခြင်းတရား ဆိုက်ရောက်လာသဖြင့် မေ့မြောနေသောသူကဲ့သို့ မျက်စိများမှုးဝေလျက်ရှိပြီး အသင့်ဘက်သို့ ကြည့်ရှုနေကြသည်ကို အသင်သည် တွေ့မြင်ရလေသည်။

တဖန် စိုးရိမ်မှု ပပျောက်သွားလေသောအခါဝယ် ၎င်းတို့သည် (လက်ရ)ပစ္စည်းများအပေါ်၌ လောဘရမ္မက်ထားရှိကြလျက် ထက်မြက်သောနှုတ်သီးများဖြင့် အသင်တို့အား နာကြည်းစေရန် စောင်းမြောင်းပြောဆိုကြကုန်၏။

ထိုသူတို့ကား သက်ဝင် ယုံကြည်ခဲ့ကြသည် မဟုတ်ပေ။ သို့ဖြစ်ပေရာ အလ္လာဟ် အရှင်မြတ်သည် ၎င်းတို့၏ ဆောင်ရွက်ချက်များကို အချည်းနှီး ဖြစ်စေတော်မူခဲ့၏။ စင်စစ်သော်ကား ဤသည် အလ္လာဟ် အရှင်မြတ်အဖို့ (လွန်စွာ) လွယ်ကူလှပေတကား။

يَحْسَبُونَ الْأَحْزَابَ لَمْ
يَذْهَبُوا ۖ وَإِنْ يَأْتِ الْأَحْزَابُ
يَوَدُّوا لَوْ أَنَّهُمْ بَادُونَ فِي
الْأَعْرَابِ يَسْأَلُونَ عَنْ
أَنْبَائِكُمْ ۖ وَلَوْ كَانُوا فِيكُمْ

၂၀။ ၎င်းတို့သည် “သွေးစည်းထားသော (ကာဖိရ် မဟာမိတ်)အုပ်စုတို့မှာ (ယခုတိုင်အောင်) မသွားကြသေး” ဟု ထင်မှတ်နေကြကုန်၏။ သို့ရာတွင် ထိုသွေးစည်းထားသောအုပ်စုများ ရောက်ရှိ၍ လာကြလျှင်၊ ၎င်းတို့မှာ “အကယ်၍ ကျွန်ုပ်တို့သည် ကျေးလက်တောရွာများ၌ နေထိုင်ခဲ့ကြပြီး အသင်တို့၏ သတင်းများ စုံစမ်းမေးမြန်းလျက်ရှိကြသော် ကောင်းလေစွ” ဟု နှစ်သက်လိုလားကြပေမည်။ သို့ရာတွင် အကယ်၍ ၎င်းတို့သည် အသင်တို့နှင့်အတူ ရှိနေခဲ့ကြ

مَّا قٰتَلُوْٓا اِلَّا قَلِيْلًا ⑳

လျှင်လည်း အနည်းငယ်မျှသာလျှင် တိုက်ခိုက်ကြပေမည်။ [၁]

لَقَدْ كَانَ لَكُمْ فِيْ رَسُوْلِ اللّٰهِ اُسْوَةٌ حَسَنَةٌ لِّمَنْ كَانَ يَرْجُوا اللّٰهَ وَالْيَوْمَ الْاٰخِرَ وَذَكَرَ اللّٰهَ كَثِيْرًا ㉑

၂၁။ စေကန်မလွဲ အသင်တို့အဖို့ (ဝါ) အလ္လာဟ်အရှင်မြတ်ကိုလည်းကောင်း၊ နောက်ဆုံးနေ့ကိုလည်းကောင်း၊ ကြောက်ရွံ့သည့်ပြင် အလ္လာဟ်အရှင်မြတ်အား များစွာ အောက်မေ့တ,သ, သတိရလျက်ရှိသူ၏အဖို့ အလ္လာဟ်အရှင်မြတ်၏ရစူလ်တမန်တော်မြတ်၌ မွန်မြတ်လှစွာသော စံနမူနာသည် ရှိပေသည်။ [၂]

---

① မုနာဖစ်က်များသည် အဘယ်မျှ သူရဲဘောနည်းသည်၊ အဘယ်မျှ သတ္တိကြောင်သည်ဆိုသော် ကာဖိရ်မဟာမိတ်စစ်သည်များ အကြံအစည်မအောင်မြင်ပဲ တပ်ခေါက်ပြန်သွားကြရသည်ကိုပင် မယုံကြည်နိုင်ပဲ ရှိနေခဲ့ကြပေသည်။ မုနာဖစ်က်များသည် တဘက်တွင် အခြေအနေအရ မုစ်လင်မ်များနှင့်ပူးပေါင်း၍ နေကြသည်။ အခြားတဘက်တွင် ကာဖိရ်မဟာမိတ်စစ်သည်များ ပြန်လာကြသည်ကိုပင် လိုလားနေကြပေသည်။ အကယ်တန္တ ကာဖိရ်မဟာမိတ်စစ်သည်များ ရောက်ရှိလာကြပါက ၎င်းတို့သည် မြို့တွင်း၌ပင်မနေပဲ ကျေးလက်တောရွာများတွင် သွားရောက်နေထိုင်ပြီး ခြံစည်းရိုးပေါ်တွင်ထိုင်ကာ စစ်သတင်းကို နားစွင့်နေကြပေမည်။ စစ်ရေးသာသည့်ဘက်သို့ ယိမ်းယိုင်ကြပေမည်။ ဤကား မုနာဖစ်က်တို့၏ ဟန်ဆောင်မှု၊ သတ္တိကြောင်မှု၊ အချောင်ဆန်မှု၊ မုစ်လင်မ်မုန်းတီးမှုနှင့် ကာဖိရ်လိုလားမှု၏ သရုပ်သကန်ပင်။

② **အတုယူဖွယ်ရာ စံနမူနာ၊**

တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)၏ ဘဝသက်တမ်းတစ်ခုလုံးသည် လူသားတို့အဖို့၊ အထူးသဖြင့် ကိယာမတ်နေ့တွင် အလ္လာဟ်အရှင်မြတ်နှင့် တွေ့ရမည်ကိုမျှော်ကာ ထိုအရှင်မြတ်အား မပြတ်ခါခါ အောက်မေ့တသ, သတိရလျက်ရှိသော သူမွန်သူမြတ်တို့အဖို့ အလွန်ကောင်းမြတ်လှသည့် စံနမူနာပင်ဖြစ်ပေသည်။ အခြား အေးချမ်းသော၊ သာယာသော အချိန်အခါမျိုးတွင်မဆိုထားနှင့်၊ စစ်မြေပြင်တွင် စစ်သည်အင်အားချင်း မမျှတသော ရန်သူများနှင့် ရင်ဆိုင်နေရသည့် အချိန်အခါမျိုးတွင်လည်း တမန်တော်မြတ် (ဆွာလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် မယိမ်းမယိုင် ကျောက်တိုင်ပမာ ရပ်တည်နေတော်မူခဲ့သည်။ အနည်းငယ်စိုးစဉ်းမျှပင် တုန်လှုပ်ချောက်ချားတော်မမူခဲ့ပေ။

သို့ဖြစ်ရာ ကျွန်ုပ်တို့သည် လောကီရေး၊ လောကုတ္တရာရေး၊ စားဝတ်နေရေး၊ ပြောရေး၊ဆိုရေး၊ နေရေးထိုင်ရေးစသည့် အရေးကိစ္စအဝဝတွင် တမန်တော်မြတ် (ဆွာလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်) ချမှတ်တော်မူခဲ့သည့် လမ်းစဉ်များကိုသာ ဖဝါးခြေထပ် လိုက်နာကျင့်သုံးကြရမည်။ အထူးသဖြင့် ဖွဲ့သတ္တိ၊ ကြံ့ခိုင်တည်ကြည်စွာ ရပ်တည်မှုတွင် တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)ကိုပင် စံနမူနာ ထားကြရပေမည်။

وَلَمَّا رَاَ الْمُؤْمِنُوْنَ الْاَحْزَابَ ۙ
قَالُوْا هٰذَا مَا وَعَدَنَا اللّٰهُ
وَرَسُوْلُهٗ وَصَدَقَ اللّٰهُ
وَرَسُوْلُهٗ ۫ وَمَا زَادَهُمْ
اِلَّاۤ اِيْمَانًا وَّتَسْلِيْمًا ؕ﴿۲۲﴾

၂၂။ အမှန်စင်စစ်သော်ကား "မုအ်မင်န်" သက်ဝင်ယုံကြည်သောသူတို့သည် သွေးစည်းထားသောအုပ်စုတို့အား တွေ့မြင်ခဲ့ကြသောအခါ "ဤသည် ကျွန်ုပ်တို့အား အလ္လာဟ်အရှင်မြတ်သည်လည်းကောင်း၊ ထိုအရှင်မြတ်၏ ရစူလ်တမန်မြတ်သည်လည်းကောင်း၊ ချိန်းချက်တော်မူခဲ့သောကိစ္စပင် ဖြစ်သည်။ စင်စစ် အလ္လာဟ်အရှင်မြတ်သည်လည်းကောင်း၊ ထိုအရှင်မြတ်၏ ရစူလ် တမန်တော်မြတ်သည်လည်းကောင်း၊ ခုန်ကန်စွာ (သတင်းပေး) မိန့်ကြားတော်မူခဲ့သည်" ဟု ပြောဆိုကြကုန်၏။ ထိုမှတပါး ယင်းကိစ္စသည် ၎င်းတို့၌ အီမာန်ယုံကြည်မှုနှင့်လိုက်နာမှုကိုသာ တိုးပွားများပြားစေခဲ့လေသတည်း။ [၁]

مِنَ الْمُؤْمِنِيْنَ رِجَالٌ
صَدَقُوْا مَا عَاهَدُوا اللّٰهَ عَلَيْهِ ۚ
فَمِنْهُمْ مَّنْ قَضٰى نَحْبَهٗ
وَمِنْهُمْ مَّنْ يَّنْتَظِرُ ۖ وَمَا بَدَّلُوْا
تَبْدِيْلًا ۙ﴿۲۳﴾

၂၃။ "မုအ်မင်န်" သက်ဝင်ယုံကြည်သူတို့အနက် အလ္လာဟ်အရှင်မြတ်နှင့် မိမိတို့ ထားရှိခဲ့ကြသော ပဋိညာဉ်နှင့်အညီ မှန်ကန်စွာ ပြုလုပ်ခဲ့ကြသူများလည်း ရှိကြကုန်၏။ သို့ဖြစ်ပေရာ ၎င်းတို့အနက် မိမိတို့၏ အဓိဋ္ဌာန်ကို ပြီးစီးအောင် ဆောင်ရွက်ခဲ့သူများလည်း ရှိကြ၏။ ထို့ပြင် ၎င်းတို့အနက် (မိမိတို့၏ အဓိဋ္ဌာန်ကို ပြီးစီးအောင်ဆောင်ရွက်ရန်) စောင့်စားနေသူများလည်း ရှိကြကုန်၏။ ၎င်းတို့သည် အနည်းငယ် စိုးစဉ်းမျှပင် မပြောင်းလဲခဲ့ကြပေ။ [၂]

(၁) မုအ်မင်န်များသည် ကာဖိရ်မဟာမိတ်စစ်သည်များအား လေးဘက်လေးတန်မှ အင်အားကြီးမားစွာဖြင့် စစ်ချီတက်လာကြသည်ကို တွေ့ကြရသောအခါ 'ဤသည် အလ္လာဟ်အရှင်မြတ်နှင့် ထိုအရှင်မြတ်၏ တမန်တော်က ယခင်က ကျွန်ုပ်တို့အား ချိန်းချက်ထားတော်မူသော အရာသာဖြစ်သည်'ဟု ဆိုကြလေသည်။ ဤသည့်ချိန်းချက်သည် ကုရ်အာန်ကျမ်းမြတ် (၂း၂၁၄။ ၃၈း၁၁)တွင် ပါရှိသည်။ ထို့ပြင်တဝ မုအ်မင်န်များသည် ယင်းသို့ ကာဖိရ် စစ်သည်များအား တွေ့မြင်ကြရသောအခါ တစ်စုံတစ်ရာ တုန်လှုပ်ချောက်ချားခြင်း မရှိသည့်အပြင် ၎င်းတို့၏ ယုံကြည်ချက်နှင့် နာခံမှုသည် ပိုမို၍ပင် ရင့်ကျက်တိုးပွား များပြားလာခဲ့ပေသည်။ ဤသည် မုအ်မင်န်တို့၏ သရုပ်သကန်ပင်။ ဤသည် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)ချမှတ်ထားတော်မူခဲ့သည့် လမ်းစဉ်ကို ဖဝါးခြေထပ် လိုက်နာကျင့်သုံးမှုပင်။

لِّيَجْزِيَ اللَّهُ الصَّادِقِينَ بِصِدْقِهِمْ وَيُعَذِّبَ الْمُنَافِقِينَ إِن شَاءَ أَوْ يَتُوبَ عَلَيْهِمْ ۚ إِنَّ اللَّهَ كَانَ غَفُورًا رَّحِيمًا ﴿٢٤﴾

၂၄။ (ယင်းကဲ့သို့ ဖြစ်ရခြင်းမှာ) အလ္လာဟ်အရှင်မြတ်သည် သစ္စာဝါဒီတို့အား ထိုသူတို့၏သစ္စာရှိမှုကြောင့် အစားပေးတော်မူအံ့သောငှာလည်းကောင်း၊ အကယ်၍ အလိုရှိတော်မူခဲ့ပါလျှင် မုနာဖစ်က် အယောင်ဆောင် မုစ်လင်မ်တို့အား ပြစ်ဒဏ် ပေးတော်မူအံ့သောငှာ သို့မဟုတ် (အလိုရှိတော်မူပါလျှင်) ထိုသူတို့၏ ဝန်ချတောင်းပန်ချက်ကို သဘောတူ လက်ခံတော်မူအံ့သောငှာလည်းကောင်း၊ ဖြစ်၏။ ဧကန်မလွဲ အလ္လာဟ်အရှင်မြတ်သည် အလွန်တရာ ခွင့်လွှတ်ချမ်းသာပေးသနားတော်မူသော၊ အလွန်တရာ ကရုဏာပြုတော်မူသောအရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

---

(၂) မုအ်မင်န်တို့၏ ကတိတည်မှု၊ စွန့်စားမှု၊

အထက်တွင် မုနာဖစ်က်များသည် "နောက်နောင် ကျွန်ုပ်တို့သည် စစ်မြေပြင်မှ ကျောခိုင်းသွားကြမည် မဟုတ်ပါ" ဟု ဝန်ခံကတိပြုကြ ပြီးနောက်သော်မှပင် မိမိတို့၏ကတိကို ချိုးဖောက်ခဲ့ကြသည့် အကြောင်းပါရှိသည်။ [ကြည့်-ကုရ်အာန် (၃၃း၁၄-၁၅)] ဤအာယတ်တော်တွင် မုအ်မင်န်များ ကတိတည်ခဲ့ကြသည့် အကြောင်းကို မိန့်ဆိုထားတော်မူသည်။ မုအ်မင်န်များသည် ကတိတည်ခဲ့ကြသည်။ ကတိပြုကြသည့်အတိုင်း လက်တွေ့ဆောင်ရွက်ခဲ့ကြသည်။ ဒုက္ခကြီးငယ်နှင့် ရင်ဆိုင်ရသည့် အချိန်အခါမျိုးမှာပင် အစ္စလာမ်နှင့်တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)ကို အသက်ပေး၍ ကာကွယ်ခဲ့ကြသည်။ အနည်းငယ်စိုးစဉ်းမျှပင် မသွေဖည်ခဲ့ကြပေ။ အလ္လာဟ်အရှင်မြတ်နှင့် တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)ထံတွင် ဆိုထားကြသည့် သစ္စာအဓိဋ္ဌာန်အပေါ်၌ သေသည့်တိုင်အောင် မယိမ်းမယိုင် ကျောက်တိုင်ပမာ ရပ်တည်နေခဲ့ကြပေသည်။

"မုအ်မင်န်တို့အနက် အချို့သည် မိမိတို့၏တာဝန်ကို ကျေပွန်စွာ ဆောင်ရွက်ပြီးချေပြီ" (ဝါ) စစ်ပွဲတွင် အသက်ပေး၍ 'ရှဟီးဒ်' ဖြစ်သွားခဲ့ချေပြီ။ ဥပမာ-(ဗဒ်ရ်၊ အုဟွဒ်စစ်ပွဲများတွင် သေဆုံးသွားခဲ့ကြချေပြီ)။ ၎င်းတို့တွင် (ဆွဟာဗီ) သာဝကကြီးအနတ်စ် အစ်ဗ်န နဿရ်သည် အထူးပင် ကျော်ကြားခဲ့ပေသည်။

မုအ်မင်န်တို့တွင် အချို့တို့သည် အလ္လာဟ်အရှင်မြတ်၏ လမ်းတော်၌ ရှဟီးဒ်ဖြစ်ရန်၊ အသက်စွန့်ရန်၊ အခွင့်အလမ်းကို ဆန္ဒပြင်းပြစွာဖြင့် စောင့်မျှော်လျက် ရှိကြပေသည်၊

အထက်ဖော်ပြပါ မုအ်မင်န် နှစ်မျိုးနှစ်စားလုံးသည် မိမိတို့ထားရှိခဲ့ကြသော ကတိများကို ကောင်းစွာထိန်းသိမ်း နိုင်ခဲ့ကြပေသည်။ အနည်းငယ်စိုးစဉ်းမျှပင် မပြောင်းလဲခဲ့ကြပေ။

၂၅။ စင်စစ်သော်ကား အလ္လာဟ်အရှင်မြတ်သည် ကာဖိရ် သွေဖည်ငြင်းပယ်သော သူတို့အား ၎င်းတို့သည် မည်သည့် ကောင်းကျိုးကိုမျှ မရရှိခဲ့ကြဘဲ၊ ၎င်းတို့၏ အမျက်ဒေါသနှင့်တကွ ပြန်သွားစေတော်မူခဲ့၏။ [၁] ၎င်းပြင် စစ်မက်တိုက်ခိုက်ရာတွင် အလ္လာဟ်အရှင်မြတ်သည်ပင် 'မုအ်မင်န်' သက်ဝင်ယုံကြည်သူတို့အဖို့ လုံလောက်တော်မူခဲ့၏။ စင်စစ်မှာကား အလ္လာဟ်အရှင်မြတ်သည် အလွန်တရာ အားအင်ပြည့်စုံတော်မူသော၊ အလွန်တရာ လွှမ်းမိုးတော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

وَرَدَّ اللّٰهُ الَّذِيْنَ كَفَرُوْا بِغَيْظِهِمْ
لَمْ يَنَالُوْا خَيْرًا ۭ وَكَفَى اللّٰهُ
الْمُؤْمِنِيْنَ الْقِتَالَ ۭ
وَكَانَ اللّٰهُ قَوِيًّا عَزِيْزًا ۝٢٥

၂၆။ ထိုမှတပါး ထိုအရှင်မြတ်သည် ၎င်းတို့အား ကူညီထောက်မခဲ့ကြကုန်သော ကျမ်းဂန်ရရှိသူတို့အား ၎င်းတို့၏ ခံတပ်များမှ ထွက်စေတော်မူခဲ့သည့်ပြင် ၎င်းတို့၏ စိတ်နှလုံးများတွင် ကြောက်ရွံ့ထိတ်လန့်မှုကို ထည့်သွင်းတော်မူခဲ့ရာ အသင်တို့သည် ၎င်းတို့အနက် လူတစုကို သတ်ဖြတ်လျက် ရှိကြပြီး၊ လူတစုကိုမူကား (သုံ့ပန်းများအဖြစ်) ဖမ်းဆီးချုပ်နှောင်ကြကုန်၏။ [၂]

وَاَنْزَلَ الَّذِيْنَ ظَاهَرُوْهُمْ مِّنْ
اَهْلِ الْكِتٰبِ مِنْ
صَيَاصِيْهِمْ وَقَذَفَ فِيْ
قُلُوْبِهِمُ الرُّعْبَ فَرِيْقًا
تَقْتُلُوْنَ وَتَاْسِرُوْنَ فَرِيْقًا ۝٢٦

---

(၁) ကာဖိရ်များသည် စစ်သည်အင်အား ကြီးမားစွာဖြင့် ရက်ပေါင်းများစွာ မုစ်လင်မ်တို့အား ဝိုင်းဝန်းတိုက်ခိုက်ကြသော်လည်း နောက်ဆုံးတွင် စစ်ရေးလည်းမသာ၊ ဥစ္စာပစ္စည်း တစ်စုံတစ်ရာလည်းမရရှိပဲ၊ ခဲလေသမျှသဲရေကျဖြစ်ကာ၊ ကြိတ်မနိုင်ခဲမရဖြစ်ကာ တပ်ခေါက်ပြန်သွားခဲ့ကြရပေသည်။ သို့ဖြစ်ကြရသည့်အထဲတွင် ၎င်းတို့၏ အကျော်အမော် စစ်ဗိုလ်တစ်ဦးဖြစ်သူ အမ်ရ်အစ်ဗ်နု ဝဒ္ဒသည် သာဝကကြီးအလီ၏ လက်ချက်ဖြင့် သေဆုံးသွားခဲ့ရလေသည်။

ကာဖိရ်များက "၎င်းတို့အား ၎င်းတို့၏စစ်ဗိုလ်၏ အသုဘအလောင်းကို ပြန်ပေးပါက ငွေတစ်သောင်းတိတိပေးပါမည်"ဟုဆိုရာ၊ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)က "အသင်တို့သည် အသုဘအလောင်းကို ယူသွားကြ၊ ငါတို့သည် အသုဘအလောင်း၏ အဖိုးအခ စားသုံးသူများမဟုတ်"ဟု မိန့်ကြားတော်မူလိုက်လေသည်။

(၂) **ကုရိုင်ဇွာဟ် မျိုးနွယ်ဝင်များအား ဒဏ်ခတ်ခြင်း၊**

ကုရိုင်ဇွာဟ် မျိုးနွယ်ဝင်များသည် မဒီနာမြို့၏အရှေ့ဘက်တွင် ခိုင်ခံ့သောခံတပ်များ၌ ➢➢

➤➤ နေထိုင်ခဲ့ကြ၏။ ၎င်းတို့သည် မုစ်လင်မ်များနှင့် ချစ်ကြည်ရေး စာချုပ်ချုပ်ဆိုထားခဲ့၏။ သို့ချစ်ကြည်ရေး စာချုပ် ချုပ်ဆိုထားပါလျက်၊ ၎င်းတို့သည် နသ္ဆီရ်မျိုးနွယ်၏ခေါင်းဆောင် ဟွတ်ယ်အစ်ဗ်နအခ်တွာဗ်၏ သွေးဆောင်မှုကြောင့် မုစ်လင်မ်တို့နှင့် ချုပ်ဆိုထားသော ချစ်ကြည်ရေးစာချုပ်ကို ချိုးဖောက်ကာ အဟ်ဇာဗ်စစ်ပွဲတွင် ကာဖိရ်မဟာမိတ် စစ်သည်များနှင့် ပူးပေါင်းသွားခဲ့ကြ၏။ အဟ်ဇာဗ် စစ်ပွဲဖြစ်ပွားနေစဉ် ကုရိုင်ဇွာဟ် မျိုးနွယ်ဝင်အချို့တို့သည် မုစ်လင်မ်အမျိုးသမီးများ အား တိုက်ခိုက်ရန်ပင် ကြိုးစားခဲ့ကြသေး၏။ ဆွဖိယဟ် သခင်မသည်ပင် ၎င်းတို့အား ဖွဲ့သတ္တိပြောင်မြောက်စွာ ခုခံနိုင်ခဲ့ပေသည်။

ကာဖိရ်မဟာမိတ် စစ်သည်များသည် အဟ်ဇာဗ်စစ်ပွဲမှ အကြံအစည်မအောင်မြင်ပဲ တပ်လန်ပြန်ကြ ရသည့်အခါ ကုရိုင်ဇွာဟ် မျိုးနွယ်ဝင်များသည်လည်း မိမိတို့၏ ခံတပ်များတွင် ခိုအောင်းနေခဲ့ကြလေသည်။

တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် အဟ်ဇာဗ်စစ်ပွဲ ပြီးဆုံးသွားသည့်အခါ ရေချိုးနေတော်မူစဉ် ကောင်းကင်တမန် ဂျိဗ်ရီလ်ရောက်ရှိလာပြီး ကုရိုင်ဇွာဟ် မျိုးနွယ်ဝင်များအား တိုက်ခိုက်ရန် အမိန့်တော် ပါလာကြောင်းလျှောက်ထားရာ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)နှင့်တကွ မုစ်လင်မ် စစ်သည်များသည် ဆက်လက်စစ်ချီ၍ ကုရိုင်ဇွာဟ်မျိုးနွယ်ဝင်များအား ဝိုင်းဝန်းထားလိုက်ကြလေသည်။ သို့ဝိုင်းဝန်းထားခြင်းမှာ ရက်ပေါင်း (၂၄)၊ (၂၅) ရက်ခန့်ကြာခဲ့သည်။ နောက်ဆုံးတွင် ကုရိုင်ဇွာဟ်မျိုးနွယ်ဝင်များ သည် ဝိုင်းဝန်းထားခြင်းဒဏ်ကို မခံနိုင်ကြသည့်အခါ "ကျွန်ုပ်တို့သည် မိမိတို့ခံတပ်များမှ ထွက်လာကြပါမည်။ (အောက်စ်မျိုးနွယ်၏ခေါင်းဆောင်ဖြစ်သော သာဝကကြီး စအ်ဒ်အစ်ဗ်နမုအာဇ်အား ခုံသမာဓိအဖြစ် တင်မြှောက် ကြပါမည်။ ၎င်း၏အဆုံးအဖြတ်ကို နာခံကြပါမည့်"အကြောင်း တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)ထံ စာရေးမေတ္တာရပ်ခံခဲ့ကြ၏။ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည်လည်း ၎င်းတို့၏ မေတ္တာရပ်ခံချက်ကို လက်ခံတော်မူခဲ့၏။

ကုရိုင်ဇွာဟ်မျိုးနွယ်ဝင်များက အောက်စ်မျိုးနွယ်၏ခေါင်းဆောင်အား ခုံတင်ခြင်းမှာ ကုရိုင်ဇွာဟ်နှင့် အောက်စ်တို့သည် အချင်းချင်း မဟာမိတ်များ ဖြစ်ကြသည့်အတွက် ဆုံးဖြတ်ရာတွင် ၎င်းတို့အား ထောက်ထား မည်ကို မျှော်ကိုး၍ ခုံတင်ခဲ့ကြခြင်းဖြစ်သည်။

သာဝကကြီး စအ်ဒ်သည် မိမိ၏မဟာမိတ်ဖြစ်သော ကုရိုင်ဇွာဟ်မျိုးနွယ်အား လူ့သဘာဝအလျောက် အထူးပင်ငဲ့ညှာထောက်ထား လိုခဲ့ပေသည်။ သို့တစေလည်း တရားမျှတမှုကိုမူ အသို့လျှင် ကျောခိုင်းနိုင်ခဲ့အံ့နည်း။ နောက်ဆုံးတွင် သာဝကကြီးစအ်ဒ်သည် အောက်ပါအတိုင်း အဆုံးအဖြတ်ပေးခဲ့ပေသည်။

"ကုရိုင်ဇွာဟ်မျိုးနွယ်တွင် တိုက်ခိုက်သော ယောကျာ်းအားလုံးကို ကွပ်မျက်ရမည်။ အမျိုးသမီးများနှင့် ကလေးများကို ကျွန်အဖြစ် သိမ်းပိုက်ရမည်။ ကုရိုင်ဇွာဟ်မျိုးနွယ်၏ ဥစ္စာပစ္စည်းအားလုံးကိုလည်း လက်ရပစ္စည်း အဖြစ် သိမ်းယူရမည်။ ဤသည် ၎င်းတို့၏ သစ္စာဖောက်မှု၏ အကျိုးပင်ဖြစ်သည်"။

အထက်ပါ ဆုံးဖြတ်ချက်သည် "တောင်ရာတ်" ကျမ်းချက်နှင့်လည်း ညီသည်။

သာဝကကြီး စအ်ဒ်၏ အထက်ပါဆုံးဖြတ်ချက်အရ အကြိမ်ကြိမ် သစ္စာဖောက်ခဲ့ကြသော ကုရိုင်ဇွာဟ် မျိုးနွယ်ဝင်များအနက် ယောကျာ်းများ ကွပ်မျက်ခြင်းခံခဲ့ကြရသည်။ အမျိုးသမီးများနှင့် ကလေးများမှာ ဖမ်းဆီး ချုပ်နှောင်ခြင်း ခံခဲ့ကြရသည်။ ၎င်းတို့၏ ဥစ္စာပစ္စည်းများလည်း သိမ်းပိုက်ခြင်းခံခဲ့ရသည်။ ဤသည် သစ္စာဖောက်မှု၏ အကျိုးပင်။

ဤအကြောင်းကို စီရတွန်နဗီကျမ်း အစောင်(၁)၊ စာမျက်နှာ(၄၃၃-၄၄၀) တွင် အကျယ် တွေ့ရှိနိုင်ပေသည်။

وَأَوْرَثَكُمْ أَرْضَهُمْ وَدِيَارَهُمْ وَأَمْوَالَهُمْ وَأَرْضًا لَّمْ تَطَـُٔوهَا ۚ وَكَانَ ٱللَّهُ عَلَىٰ كُلِّ شَىْءٍ قَدِيرًا ﴿٢٧﴾

၂၇။ ထိုမှတပါး ထိုအရှင်မြတ်သည် ထိုသူတို့၏ မြေကိုလည်းကောင်း၊ ထိုသူတို့၏ နေအိမ်များကိုလည်းကောင်း၊ ထိုသူတို့၏ ဥစ္စာပစ္စည်းများကိုလည်းကောင်း၊ ထို့ပြင် အသင်တို့ ခြေမချရသေးသော မြေကိုလည်းကောင်း၊ [၁] အသင်တို့အား အမွေဆက်ခံစေတော်မူခဲ့၏။ စင်စစ်သော်ကား အလ္လာဟ်အရှင်မြတ်သည် အရာခပ်သိမ်းတို့ကို စွမ်းဆောင်နိုင်တော်မူသောအရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

يَـٰٓأَيُّهَا ٱلنَّبِىُّ قُل لِّأَزْوَٰجِكَ إِن كُنتُنَّ تُرِدْنَ ٱلْحَيَوٰةَ ٱلدُّنْيَا وَزِينَتَهَا فَتَعَالَيْنَ أُمَتِّعْكُنَّ وَأُسَرِّحْكُنَّ سَرَاحًا جَمِيلًا ﴿٢٨﴾

၂၈။ အို-နဗီတမန်တော်၊ အသင်သည် မိမိ ကြင်ရာတော်များအား ပြောကြားပါလေ။ အကယ်၍ အသင်မတို့သည် လောကီဘဝကိုလည်းကောင်း၊ ယင်းလောကီဘဝ၏ လှပတင့်တယ်မှုကိုလည်းကောင်း အလိုရှိကြပါလျှင်၊ အသင်မတို့လာကြပါကုန်၊ ငါသည် အသင်မတို့အား ကျေနပ်အောင်အကျိုးခံစားစေ၍ ကောင်းမွန်စွာ စွန့်လွှတ်လိုက်မည်။

وَإِن كُنتُنَّ تُرِدْنَ ٱللَّهَ وَرَسُولَهُۥ وَٱلدَّارَ ٱلْـَٔاخِرَةَ فَإِنَّ ٱللَّهَ أَعَدَّ لِلْمُحْسِنَـٰتِ مِنكُنَّ أَجْرًا عَظِيمًا ﴿٢٩﴾

၂၉။ သို့ရာတွင် အကယ်၍ အသင်မတို့သည် အလ္လာဟ်အရှင်မြတ်အားလည်းကောင်း၊ ထိုအရှင်မြတ်၏ ရစူလ်တမန်တော်မြတ်အားလည်းကောင်း၊ တမလွန်ဘဝကိုလည်းကောင်း၊ ရည်စူးကြပါလျှင် မလွဲဧကန် အလ္လာဟ်အရှင်မြတ်သည် အသင်မတို့အနက် ကောင်းမြတ်သောအကျင့်သီလကို ဆောက်တည်ကြကုန်သော သူမတို့အဖို့ ကြီးကျယ်လှစွာသောအကျိုးကို အဆင်သင့် ပြုလုပ်၍ ထားရှိတော်မူသည်။ [၂]

---

(၁) ဤအာယတ်တော်တွင် "အသင်တို့ ခြေမချရသေးသောမြေ" ဟူသည် 'ခိုင်ဗရ်'မြေကို ဆိုလိုသည်။ မုစ်လင်မ်တို့သည် ကုရိုင်ဇွာဟ်မျိုးနွယ်ကို ဒဏ်ခတ်ပြီးနောက် (၂)နှစ်ရှိသောအခါ ခိုင်ဗရ်ကို သိမ်းပိုက်နိုင်ခဲ့ကြပေသည်။

အချို့အဆိုအရ အဆိုပါမြေသည် မက္ကာမြေကို ဆိုလိုသည်ဟူ၍လည်းကောင်း၊ အချို့က ပါရှား၊ ရောမ တိုင်းပြည်များကို ဆိုလိုသည်ဟူ၍လည်းကောင်း၊ အချို့က ကိယာမတ်တိုင် မုစ်လင်မ်တို့ အောင်နိုင် ➤➤

➤➤ သိမ်းပိုက်ကြမည့် မြေများကိုဆိုလိုသည်ဟူ၍ လည်းကောင်း အဆိုအမျိုးမျိုး ရှိပေသည်။

### ⑵ ကြင်ရာတော်များအား ကြိုက်နှစ်သက်ရာ လမ်းတစ်သွယ်ကို ရွေးချယ်ရန်၊

တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် မိမိ၏ အာသာဆန္ဒအလျောက် စားဝတ်နေရေးတွင် အသုံးအစွဲကို ခြိုးခြံနိုင်သမျှ ခြိုးခြံတော်မူခဲ့၏။ ချို့တဲ့မှု၊ ပင်ပန်းမှု၊ ဆင်းရဲမှုတို့ကို သည်းခံတော်မူခဲ့၏။ အိမ်တော်သို့ရောက်ရှိလာသော ဥစ္စာပစ္စည်းနှင့် စားဖွယ်ရာများကိုလည်း မဆိုင်းမငံ့ ချက်ချင်းပင် လှူဒါန်းပေးကမ်းလေ့ရှိတော်မူခဲ့၏။ တစ်ခါတစ်ရံ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် ကြွေးမြီပင်ယူငင်၍ အိမ်တော်သူ၊ အိမ်တော်သားများ၏ စားဝတ်နေရေးကို ဖန်တီးတော်မူခဲ့ရရှာ၏။

(ခိုင်ဗရ်... စသည့်နယ်မြေများကို အောင်နိုင်သိမ်းပိုက်ပြီး နောက်ပိုင်းတွင်) မုစ်လင်မ်တို့၏ စားဝတ်နေရေးသည် အတော်ပင် အဆင်ပြေလာခဲ့၏။ ယင်းသည့်အခြေအနေကို တွေ့မြင်ကြရသောအခါ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)၏ ကြင်ရာတော်များသည်လည်း လူ့သဘာဝအလျောက် စားဝတ်နေရေး အဆင်ပြေလိုခဲ့ကြ၏။ ထိုအခါ အချို့ကြင်ရာတော်များက တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)ထံတွင် စားဝတ်နေရေး အဆင်ပြေစေရန်အတွက် ယခင်ကထက် စားနပ်ရိက္ခာ အသုံးစရိတ်များကို ပိုမိုပေးတော်မူရန် မေတ္တာရပ်ခံခဲ့ကြ၏။ တောင်းဆိုခဲ့ကြ၏။

ယင်းသို့ စားဝတ်နေရေးနှင့်စပ်လျဉ်း၍ ကြင်ရာတော်များ၏ တောင်းဆိုချက်ကို ကြားရသောအခါ တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)သည် စိတ်မကောင်း ဖြစ်တော်မူခဲ့၏။ စိတ်ထိခိုက်တော်မူခဲ့၏။ ထိုအခါ တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)သည် "တစ်လတိုင်တိုင် အိမ်တော်သို့ ငါသွားမည်မဟုတ်"ဟု ကျိန်ဆို၍ ဗလီကျောင်းတော်အနီးရှိ အဆောင်တစ်ခု၏ လသာဆောင်တွင် တကိုယ်ရည်၊ တကာယတည်း စံနေတော်မူခဲ့၏။ အိမ်တော်၏ အိမ်တွင်းရေးမပြေလည်မှုကို သိရှိကြသော တပည့်သာဝကများသည်လည်း ပူပန်သောကဖြစ်ခဲ့ကြ၏။

သာဝကကြီး အဗူဗတ်ကရ်နှင့် သာဝကကြီး အုမ်ရ်နှစ်ပါးတို့သည် ဤပြဿနာ တနည်းတဖုံ ပြေလည်သွားစေရန် ကြံစည်နေခဲ့ကြ၏။ အထူးသဖြင့် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)၏ ကြင်ရာတော်များတွင် အပါအဝင်ဖြစ်နေသော မိမိတို့၏သမီးနှစ်ဦး (အာအိရှဟ်၊ ဟဖ်ဆွဟ်) တို့နှင့် ပတ်သက်၍ ထိုသမီးနှစ်ဦးသည် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)အား စိတ်ဒုက္ခဖြစ်စေပြီး မိမိတို့၏နောင်ရေး ဖျက်ဆီးပစ်ကြမည်ကို စိုးရိမ်ပူပန်နေခဲ့ကြ၏။ ထိုအခါ သာဝကကြီးအဗူဗတ်ကရ်နှင့် သာဝကကြီးအုမ်ရ်သည် မိမိတို့၏သမီးများကို အသီးသီးနားချခဲ့ကြ၏။ ဆုံးမခဲ့ကြ၏။ ကြိမ်းမောင်းခဲ့ကြ၏။ ထို့နောက် အဆိုပါ သာဝကကြီးနှစ်ပါးသည် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)ထံသွားပြီး ခင်မင်ရင်းနှီးစွာ စကားစမြည်ပြောဆိုခဲ့ကြ၏။ ထိုအခါ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် အနည်းငယ် စိတ်နှလုံးကြည်ရွှင်လာတော်မူခဲ့၏။ တလကြာသော် ကြင်ရာတော်များသည် လမ်းနှစ်သွယ်အနက် ကြိုက်နှစ်သက်ရာ လမ်းတသွယ်ကို ရွေးချယ်ကြရမည့်အကြောင်းနှင့် စပ်လျဉ်း၍ ကုရ်အာန်ကျမ်းလာ ဤအာယတ်တော် (၃၃:၂၈-၂၉) ကျရောက်လာခဲ့ပေသည်။

အဆိုပါ အာယတ်တော်များ၏အလိုသဘောမှာ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)က ကြင်ရာတော်များအား ၎င်းတို့သည် လမ်းနှစ်သွယ်အနက် ကြိုက်နှစ်သက်ရာ လမ်းတသွယ်ကို ရွေးချယ်ကြရမည့်အကြောင်း၊ ကြင်ရာတော်များသည် လောကီစည်းစိမ်ကို ခုံမင်မက်မောကြပါက မိမိနှင့်ဆက်လက် ပေါင်းသင်း➤➤

يٰنِسَآءَ النَّبِيِّ مَنْ يَّاْتِ مِنْكُنَّ بِفَاحِشَةٍ مُّبَيِّنَةٍ يُّضٰعَفْ لَهَا الْعَذَابُ ضِعْفَيْنِ ۗ وَكَانَ ذٰلِكَ عَلَى اللّٰهِ يَسِيْرًا ۝٣٠

၃၀။ အို-နဗီတမန်တော်မြတ်၏ ကြင်ရာတော် အပေါင်းတို့၊ အသင်မတို့အနက် မည်သူမဆို ထင်ရှားစွာသော မဖွယ်မရာအမှုကိစ္စ တစ်စုံတစ်ခုကို ပြုလုပ်သည်ရှိသော် ၎င်းမှာ နှစ်ဆတိုး၍ ပြစ်ဒဏ်ပေးခြင်းကို ခံရပေမည်။ စင်စစ်သော်ကား အလ္လာဟ်အရှင်မြတ်၌ ယင်းကဲ့သို့ ပြုလုပ်ရန် လွယ်ကူပေသတည်း။ ၁

➤➤ နေထိုင်ရန် မဖြစ်နိုင်ကြောင်း၊ (လင်ခန်း၊မယားခန်း ဖြတ်ခြင်းခံရသော အမျိုးသမီးများအား ဝတ်စုံစသည်များ ပေးရသည့် စည်းကမ်းချက်နှင့်အညီ) အနည်းငယ် အကျိုးခံစားခွင့်ပေးပြီး ကောင်းမွန်စွာ စွန့်လွှတ်မည်ဖြစ်ကြောင်း၊ (ဝ) တရားတော်နှင့်အညီ လင်ခန်း၊မယားခန်း ဖြတ်မည်ဖြစ်ကြောင်း၊ အကယ်၍ ကြင်ရာတော်များသည် အလ္လာဟ်အရှင်မြတ်နှင့် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)၏ နှစ်သက်ကျေနပ်မှုကို လိုလားကြလျှင်၊ နောင်တမလွန်ဘဝ၏ ကောင်းမွန်မြင့်မြတ်သော သုခချမ်းသာများကို လိုလားကြလျှင် တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)ထံတော်တွင် ပိုနေမြဲကျားနေမြဲ ယခင်နည်းတူပင် နေထိုင်ကြရမည်ဖြစ်ကြောင်း၊ တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)ထံတော်တွင် ကောင်းမွန်စွာ နေထိုင်ကြသော ကြင်ရာတော်များအဖို့ အလ္လာဟ်အရှင်မြတ်သည် ကြီးကဲမြင့်မြတ်သော ကုသိုလ်အကျိုးကို အသင့်စီစဉ်ထားတော်မူကြောင်းများကို အတည့်အလင်း ပြောကြားရန်ပင်ဖြစ်သည်။

ဤအာယတ်တော် ကျရောက်လာသည့်အခါ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် အိမ်တော်သို့ ကြွလာပြီး ဦးစွာပထမ ကြင်ရာတော် အာအိရှဟ်အား ဤအာယတ်တော်ကို ပြောပြတော်မူ၏။ အာအိရှဟ်သခင်မသည် ဤအာယတ်တော်ကို ကြားနာရသည့်အခါ မဆိုင်းမင့်ပဲ၊ "ကျွန်မသည် အလ္လာဟ်အရှင်မြတ်နှင့် တမန်တော်မြတ်၏ နှစ်သက်မှုကိုသာ လိုလားပါသည်"ဟု လျှောက်ထားခဲ့လေသည်။ ထို့နောက် ကျန်ကြင်ရာတော် အားလုံးတို့ကလည်း အာအိရှဟ်သခင်မကဲ့သို့ပင် အသီးသီး လျှောက်ထားခဲ့ကြလေသည်။

ဤသို့ဖြင့် တမန်တော်မြတ်အိမ်တော်၏ အိမ်တွင်းရေး ပြဿနာပြေလည်သွားခဲ့လေသည်။ ကြင်ရာတော်များသည်လည်း လောကီစည်းစိမ် ခံစားရန် အတွေးကို အမေ့ကြီး မေ့သွားခဲ့ကြပြီး တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)နှင့် အတူတကွ ခြိုးခြံစွာ စားဝတ်နေထိုင်ခဲ့ကြလေသည်။ ဤသို့ ခြိုးခြံစွာ စားဝတ်နေကြရသည်ကိုပင် အကျေနပ်ကြီးကျေနပ်၍ နေခဲ့ကြလေသည်။

**ကြင်ရာတော်များ၏ အဆင့်အတန်းမြင့်မားမှုနှင့် တာဝန်ကြီးလေးမှု၊**

၁ တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)၏ ကြင်ရာတော်များသည်၊ "တမန်တော်မြတ်၏ ကြင်ရာတော်များ"ဟူသော ဂုဏ်ပုဒ်နှင့်အညီ ၎င်းတို့၏ ကိုယ်ကျင့်တရား၊ အတွင်းသဘောထား ဂုဏ်သိက္ခာများသည် အခြားအမျိုးသမီးများနှင့်မတူ၊ တမူထူးခြားကြရပေမည်။ မြင့်မားကြရပေမည်။ ကြင်ရာတော်များသည် မုအ်မင်န်တို့၏မိခင်များလည်း ဖြစ်ကြပြန်ရာ မိခင်များ၌ သားသမီးတို့အား ထိန်းသိမ်းကွပ်ကဲရန် တာဝန်ရှိသည်နှင့်အညီ အပြောအဆို၊ အနေအထိုင်၊ အကျင့်အမူ စသည်တို့တွင် စံနမူနာများဖြစ်ကြရပေမည်။

တာဝန်ရှိသူတစ်ဦး၏ ချွတ်ချော်မှားယွင်းမှုသည် တာဝန်မရှိသူတစ်ဦး၏ ချွတ်ချော်မှားယွင်းမှုနှင့်မတူ၊ ပို၍ကြီးလေးသည်။ ရှေ့ဆောင်၏အပြစ်သည် အပြစ်တကာတို့၏ ရှေ့ဆောင်ပင်ဖြစ်သည်။ ➤➤

وَمَن يَقْنُتْ مِنكُنَّ لِلَّهِ وَرَسُولِهِۦ وَتَعْمَلْ صَٰلِحًا نُّؤْتِهَآ أَجْرَهَا مَرَّتَيْنِ وَأَعْتَدْنَا لَهَا رِزْقًا كَرِيمًا ﴿٣١﴾

၃၁။ ထိုနည်းတူစွာ မည်သူမဆို အသင်မတို့အနက် အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်ကို လည်းကောင်း၊ ထိုအရှင်မြတ်၏ ရစူလ်တမန်တော်မြတ်၏ အမိန့်တော်ကိုလည်းကောင်း၊ လိုက်နာသည်ရှိသော်၊ ၎င်းပြင်ကောင်းမြတ်သော အကျင့်သီလကို ဆောက်တည်သော်ငါအရှင်မြတ်သည် ၎င်းအား ၎င်း၏အကျိုးကို နှစ်ဆချီးမြှင့် ပေးသနားတော်မူပေမည်။ ထိုမှတပါး ငါအရှင်မြတ်သည် ၎င်း၏အဖို့ မြင့်မြတ်လှစွာသော ရိဇ္ဇက္ခာကိုလည်း အဆင်သင့်ပြုလုပ်၍ ထားရှိတော်မူပြီးဖြစ်ချေသတည်း။ [၁]

يَٰنِسَآءَ ٱلنَّبِىِّ لَسْتُنَّ كَأَحَدٍ مِّنَ ٱلنِّسَآءِ ۚ إِنِ ٱتَّقَيْتُنَّ فَلَا تَخْضَعْنَ بِٱلْقَوْلِ فَيَطْمَعَ ٱلَّذِى فِى قَلْبِهِۦ مَرَضٌ وَقُلْنَ قَوْلًا مَّعْرُوفًا ﴿٣٢﴾

၃၂။ အို-နဗီတမန်တော်မြတ်၏ *ကြင်ရာတော်အပေါင်းတို့၊ အသင်တို့သည် အခြားအမျိုးသမီးများကဲ့သို့ မဟုတ်ကြချေ။* [၂] သို့ဖြစ်ပေရာ အကယ်၍ အပြစ်မှကြဉ်ရှောင်ကြပါလျှင် အသင်တို့သည် စကားပြောဆိုရာတွင် ကန့်ကလျ မရှိကြကုန်လင့်။ သို့ရှိခဲ့ကြပါလျှင် စိတ်တွင်း၌ ရောဂါရှိသောသူသည် ရမ္မက်ထားရှိလာပေမည်။ သို့ရာတွင် အသင်တို့သည် ထုံးစံ *အတိုင်းသာလျှင် စကားပြောဆိုမှုကိုပြုကြလေကုန်၊* [၃]

---

>> ဥက္ကဋ္ဌ၏အပြစ်သည် အပြစ်တကာတို့၏ ဥက္ကဋ္ဌပင်ဖြစ်သည်။ သို့ဖြစ်ပေရာ တာဝန်ရှိသော၊ တာဝန်ကြီးလေးသော ကြင်ရာတော်များသည် အကယ်တန္တ မှားယွင်းချွတ်ချော်မိကြပါက အခြားအမျိုးသမီးများနှင့်မတူ ပြစ်ဒဏ်နှစ်ဆ ခံကြရပေမည်။ အလ္လာဟ်အရှင်မြတ်အထံတော်၌ မျက်နှာကြီး၊ မျက်နှာငယ်မရှိ၊ မျက်နှာကြီးမှုသည် ထိုအရှင်မြတ်အား ပြစ်ဒဏ်ခတ်တော်မူရာတွင် မည်သို့မျှ အဟန့်အတား မဖြစ်နိုင်ပေ။ ကြင်ရာတော်များသည် အပြောအဆို၊ အနေအထိုင်၊ အကျင့်အမူစသည်တို့တွင် စံနမူနာအဖြစ်နေထိုင်ကျင့်သုံးသွားခဲ့ကြသည်မှာ အစ္စလာမ့်သမိုင်းစဉ်တွင် အထင်အရှားပင်။ ကြင်ရာတော်များ၏ အတ္ထုပ္ပတ္တိများကို မိခင်မွန်ကျမ်းတွင် တွေ့ရှိနိုင်ပေသည်။

(၁) ကြင်ရာတော်များသည် အကယ်တန္တ ချွတ်ချော်မှားယွင်းမိပါက ပြစ်ဒဏ်နှစ်ဆ ခံကြရမည်ဖြစ်သကဲ့သို့ အလ္လာဟ်အရှင်မြတ်နှင့် တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)၏ အမိန့်တော်များကို မြေဝယ်မကျ လိုက်နာကြပါက၊ အခြားကောင်းမြတ်သော အကျင့်သီလများကိုလည်း ဆောက်တည်ကြပါက၊ ကုသိုလ်အကျိုးကိုလည်း နှစ်ဆပင် စံစားကြရပေမည်။ ထိုမျှမက အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့အား ဂျန္နတ်အမတသုခဘုံတွင် ထူးခြားမြင့်မြတ်လှသော သီးသန့်ရိဇ္ဇက္ခာတော်ကိုလည်း ချီးမြှင့်တော်မူဦးမည်ဖြစ်ပေသည်။ ကြည့်-ထာနဝီ။

وَقَرْنَ فِيْ بُيُوْتِكُنَّ وَلَا تَبَرَّجْنَ تَبَرُّجَ الْجَاهِلِيَّةِ الْأُوْلٰى وَاَقِمْنَ الصَّلٰوةَ وَاٰتِيْنَ الزَّكٰوةَ وَاَطِعْنَ اللّٰهَ وَرَسُوْلَهٗ

၃၃။ ထိုမှတပါး *အသင်တို့သည် မိမိတို့နေအိမ်များ၌ပင်တည်ငြိမ်စွာနေကြလေကုန်၊* [၁] ထို့ပြင် ရှေးဟောင်း အမိုက်ခေတ်တွင် မိမိတို့ကိုယ်ကို ပြကြသကဲ့သို့ အသင်တို့သည် မိမိတို့ကိုယ်ကို မပြကြကုန်လင့်။ ၎င်းပြင် အသင်တို့သည် 'ဆွလာတ်' ဝတ်ပြုမှုကို ဆောက်တည်ကြလေကုန်။ ထို့ပြင် အသင်တို့သည် 'ဇကာတ်' ပေးဆောင်ကြလေကုန်။ ထိုမှတပါး အသင်တို့သည် အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်ကိုလည်းကောင်း၊ ထိုအရှင်မြတ်၏ ရစူလ်တမန်တော်မြတ် အမိန့်တော်ကိုလည်းကောင်း၊ *လိုက်နာကြလေကုန်။* [၂]

---

(၂) **ကြင်ရာတော်များသည် အခြားအမျိုးသမီးများနှင့် မတူ၊**

ကြင်ရာတော်များသည် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)၏ ကြင်ရာတော်များ ဖြစ်ကြသည်။ မုအ်မင်န်တို့၏မိခင်များဖြစ်ကြသည်။ ကြင်ရာတော်များသည် အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ရိုသေ ခန့်ညားကြပါက (ကြောက်ရွံ့ရိုသေ ခန့်ညားခဲ့ကြသည်လည်း ဖြစ်ပေသည်) ထိုအရှင်မြတ်ထံတော်၌ ၎င်းတို့၏ အဆင့်အတန်းသည် မြင့်မားလှပေမည်။ အကယ်တန္တု ကြင်ရာတော်များသည် ကြင်ရာတော်များ ဖြစ်ကြပါလျက်၊ ချွတ်ချော်မှားယွင်းကြပါက ပြစ်ဒဏ် နှစ်ဆခံကြရပေမည်။ ထို့အတူ ကြင်ရာတော်များသည် ကောင်းမှုကုသိုလ် ဖြည့်ဆည်းကြပါက ကုသိုလ်အကျိုး နှစ်ဆရရှိကြပေမည်။ အချုပ်ဆိုသော် ကြင်ရာတော်များသည် အကောင်းပြုကြသည်ဖြစ်စေ၊ မကောင်းပြုမိကြသည်ဖြစ်စေ၊ သာမန်အမျိုးသမီးတို့နှင့်မတူ၊ တမူထူးခြားကြပေသည်။

(၃) **ကန္ဒဲ့ကလျ မပြောဆိုကြရ၊**

ကြင်ရာတော်များသည် သူစိမ်းယောကျ်ားများနှင့် စကားစမြည် ပြောဆိုရန် အကြောင်းကြုံကြိုက်လာပါက ကန္ဒဲ့ကလျ ပျော့ပျော့ပျောင်းပျောင်း၊ မူရာမာယာနှင့် မပြောဆိုကြရ၊ အမျိုးသမီးတို့ဘာဝ၊ မူမူရာရာ ပြောဆိုကြပါက စိတ်တွင်း၌ရောဂါရှိသော အတွင်းသဘော မဖြူစင်သောသူများသည် စိတ်ဖောက်ပြန်ကာ မလျော်ကန်သော ရမ္မက်များထားမိကြပေမည်။ မိမိတို့၏နောင်ရေးကို ဖျက်ဆီးကြပေမည်။ ထို့အတွက် ကြင်ရာတော်များသည် အထူးသဖြင့် သူစိမ်းယောကျ်ားများနှင့် စကားစမြည်ပြောဆိုရာတွင် မိခင်များကသားများကို ပြောဆိုသကဲ့သို့ သိက္ခာရှိစွာ၊ တည်ကြည်စွာ ပြောဆိုကြရပေမည်။

(၁) **အမျိုးသမီးများ အကြောင်းမဲ့ အိမ်ပြင်မထွက်ရာ။**

အစ္စလာမ်သာသနာမထွန်းကားမီ၊ အမိုက်ခေတ်တွင် အမျိုးသမီးများသည် (ဟိဂျာဗ်)၊ (ပရ်ဒဟ်) Veil, Cover အဖုံးအအုပ်၊ အကာအကွယ် ထားရှိလေ့ မရှိခဲ့ကြသည်သာမက မိမိတို့၏ကိုယ်ခန္ဓာနှင့် အဝတ်အစားများ၏အလှကိုပင် အရှက်ကင်းမဲ့စွာဖြင့် အထင်အရှား ပြသလေ့ရှိခဲ့ကြပေသည်။ အစ္စလာမ် ထွန်းကားလာသည့်အခါ ဤသည့်အရှက်ကင်းမဲ့မှုကို အသို့လျှင်လျစ်လျူပြုထားနိုင်အံ့နည်း။ ထို့အတွက် အစ္စလာမ်က အမျိုးသမီးများအား အိမ်ပြင်သို့သွားလာရန် အကြောင်းထူးမရှိပါက အိမ်မှာပင်နေထိုင်ကြရန်၊ အိမ်ပြင်သို့ ➤➤

إِنَّمَا يُرِيدُ ٱللَّهُ لِيُذْهِبَ عَنكُمُ ٱلرِّجْسَ أَهْلَ ٱلْبَيْتِ وَيُطَهِّرَكُمْ تَطْهِيرًا ﴿٣٣﴾

အို-(နဗီတမန်တော်မြတ်၏) အိမ်တော်သူ အိမ်တော်သားတို့၊ အလ္လာဟ်အရှင်မြတ်သည် အသင်တို့မှ မစင်ကြယ်မှုကို ပပျောက်စေတော်မူရန်နှင့် အသင်တို့အား ကောင်းမွန်စွာ စင်ကြယ် သန့်ရှင်းတော်မူရန်ကိုသာလျှင် ရည်စူးတော်မူ၏၊ ၁

---

➤➤ သွားလာရန်အကြောင်းထူးရှိ၍ မသွားမဖြစ်ပါက ဟိဂျာဗ်၊ ပရ်ဒဟ်နှင့် ဖုံးဖုံးဖိဖိ သိက္ခာရှိရှိ၊ ကာယိန္ဒြေရှိရှိ သွားလာကြရန် ပညတ်ထားသည်။ ဤသည့်ပညတ်တော်ကို မုစ်လင်မ်အမျိုးသမီးတိုင်း လိုက်နာကြရမည်ဖြစ်ရာ ကြင်ရာတော်များသည် ပိုမို၍လိုက်နာကြရမည်သာ ဖြစ်ပေသည်။

မုစ်လင်မ်အမျိုးသမီးများသည် သာသနာရေးကိစ္စအတွက်ဖြစ်စေ၊ သဘာဝကိစ္စအတွက်ဖြစ်စေ၊ အပြင်သို့ သွားရန် အကြောင်းပေါ်က အနှောင့်အယှက်၊ အန္တရာယ်လည်းမရှိက ဖြီးလိမ်းပြင်ဆင်မှု မရှိပဲ၊ ဟိဂျာဗ်၊ပရ်ဒဟ်နှင့် ဖုံးဖိလုံခြုံစွာ သွားလာနိုင်ကြပေသည်။ ဤသည့်ခွင့်ပြုချက်သည် ကျမ်းဂန်များတွင် အတည့်အလင်းပါရှိပေသည်။ အထက်ပါစည်းကမ်းချက်နှင့်အညီ ကြင်ရာတော်များသည်ပင်လျှင် အိမ်ပြင်သို့သွားလာခဲ့ကြသည့် အစဉ်အလာများ ရှိခဲ့ပေသည်။ ပိတ်ပင်ချက်မရှိခဲ့ပေ၊ သို့ပင်တစေ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)၏ သြဝါဒတော်များကို ထောက်ရှုခြင်းအားဖြင့် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် အမျိုးသမီးများ အကြောင်းမဲ့ အိမ်ပြင်ထွက်ခြင်းကို နှစ်သက်တော်မမူကြောင်း၊ အိမ်ရှင်မပီပီ၊ အိမ်တွင်းမှာ တည်ငြိမ်စွာနေထိုင်၍ အိမ်တွင်းရေးရာများ ဆောင်ရွက်ကြသည်ကိုသာ နှစ်သက်တော်မူကြောင်း ကောင်းစွာသိရှိနိုင်ပေသည်။

အမျိုးသမီးများ၏ "စတ်ရ်" လုံးဝဖုံးဖိထားအပ်သည့် ကိုယ်အင်္ဂါအစိတ်အပိုင်းများအကြောင်း ကုရ်အာန် (၂၄း၃၁)တွင် ပါရှိခဲ့ချေပြီ။

② ကြင်ရာတော်များသည် တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)၏ ကြင်ရာတော်များဖြစ်ကြပေရာ တပည့်သားတို့အဖို့ စံနမူနာဖြစ်ကြသည့်အလျောက် ဆွလာတ်ဆောက်တည်မှု၊ ဇကာတ်ပေးဆောင်မှု၊ အလ္လာဟ်အရှင်မြတ်နှင့် တမန်တော်မြတ်၏ အမိန့်နာခံမှုများတွင် အခြားမုစ်လင်မ် အမျိုးသမီးများထက်ပင် အထူးတလည် ပိုမို၍ဂရုမူကြရပေမည်။

** ဤအာယတ်တော်များတွင် ကြင်ရာတော်များအား တိုက်ရိုက်ရည်ညွှန်း မိန့်ဆိုထားတော်မူသော်လည်း ကျန်မုစ်လင်မ် အမျိုးသမီးအားလုံး တို့သည်လည်း ယင်းတွင်အကျုံးဝင်ပေသည်။

① **"အဟ်လိဗိုက်တ်" အိမ်တော်သူအိမ်တော်သားများ၏ စင်ကြယ်သန့်ရှင်းမှု၊**

အလ္လာဟ်အရှင်မြတ်သည် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)၏ အိမ်တော်သူ၊ အိမ်တော်သားများအား အမိန့်ပညတ်တော်များကို အထူးတလည် လိုက်နာကျင့်သုံးစေတော်မူလိုပြီး ၎င်းတို့၏ ဂုဏ်အင်ဒြပ်များနှင့် လျော်ညီစွာ ၎င်းတို့၏စိတ်နှလုံးနှင့် ကိုယ်ကျင့်တရားများကို သူမတူအောင် စင်ကြယ်သန့်ရှင်းစေတော်မူလိုသည်။

ဤအာယတ်တော်တွင်ပါရှိသော စင်ကြယ်သန့်ရှင်းမှုသည် ကုရ်အာန် (၅း၆)တွင် 'ဝုဿူ' အကြောင်း၌ ပါရှိသော ခြေလက်သန့်ရှင်းမှုမျိုးကိုလည်း ဆိုလိုသည်မဟုတ်၊ ကုရ်အာန် (၈း၁၁)တွင် ဗဒ်ရ်အကြောင်း၌ပါရှိသော ကိုယ်ခန္ဓာ သန့်ရှင်းမှုမျိုးကို ဆိုလိုသည်လည်းမဟုတ်၊ အလ္လာဟ်အရှင်မြတ်၏ 'ဝလီ'၊ 'အောင်လိယာ' ➤➤

وَاذْكُرْنَ مَا يُتْلَىٰ فِي بُيُوتِكُنَّ مِنْ آيَاتِ اللَّهِ وَالْحِكْمَةِ ۚ إِنَّ اللَّهَ كَانَ لَطِيفًا خَبِيرًا ﴿٣٤﴾

၃၄။ ထိုမှတပါး အသင်တို့သည် မိမိတို့အိမ်များတွင် ဖတ်ကြားခြင်းခံရလေသော အလ္လာဟ်အရှင်မြတ်၏ အာယတ်တော်များကိုလည်းကောင်း၊ ဉာဏ်ပညာများကိုလည်းကောင်း၊ ကျက်မှတ်ကြလေကုန်။ စင်စစ်ဧကန် အလ္လာဟ်အရှင်မြတ်သည် အလွန်တရာ သိမ်မွေ့တော်မူသောအရှင်၊ အလွန်တရာ ကြားသိတော်မူသောအရှင် ဖြစ်တော်မူပေသတည်း။

---

➤➤ အချစ်တော်များ ရရှိထားကြသော စိတ်နှလုံးစင်ကြယ် သန့်ရှင်းမှု၊ အတွင်းသဘောဖြူစင်မှုကိုသာဆိုလိုသည်။ ယင်းသို့ စိတ်နှလုံး စင်ကြယ်သန့်ရှင်းမှု၊ အတွင်းသဘော ဖြူစင်မှုကိုရရှိကြသော သူတော်စင်များသည် နဗီ၊ ရစူလ်တမန်တော်များကဲ့သို့ 'မအ်ဆူမ်' လုံးဝအပြစ်ကင်းသူများ မဟုတ်ကြသော်လည်း "မဟ်ဖူဇ်" အလ္လာဟ်အရှင်မြတ်၏ ထိန်းသိမ်း စောင့်ရှောက်တော်မူခြင်းကို အထူးတလည် ခံကြရမည်မှာ အမှန်ပင်ဖြစ်ပေသည်။

**"အဟ်လိဗိုက်တ်"**

ကုရ်အာန်ကျမ်းလာ အာယတ်တော်များ၏ အစီအစဉ်၊ အနေအထား၊ အသွားအလာ အသုံးအနှုန်းများကို အထူးလေ့လာ လိုက်စားသူများအဖို့ ဤအာယတ်တော်တွင် ပါရှိသည့် "အဟ်လိဗိုက်တ်"တွင် ကြင်ရာတော်များ ပါဝင်ကြသည်မှာ ထင်ရှားလှပေသည်။ အဘယ်ကြောင့်ဆိုသော် ဤအာယတ်တော်နှင့်တကွ ဤအာယတ်တော်၏ ရှေ့နောက်ရှိ အာယတ်တော်များသည် ကြင်ရာတော်များအား တိုက်ရိုက်ရည်ညွှန်း မိန့်ဆိုထားတော်မူသော အာယတ်တော်များသာ ဖြစ်ပေသည်။

အာယတ်တော် (၃၃း၃၃-၃၄)၌ ( بيوتكن ) "ဗုယူတိကွန္န" "အသင်မတို့၏အိမ်များ" တွင်ပါရှိသော 'အသင်မတို့'ဟူသော နာမ်စားသည် ကြင်ရာတော်များကိုပင် ရည်ညွှန်းပေသည်။ ထို့ပြင်တဝ ကုရ်အာန်ကျမ်းမြတ်တွင် ဤသည့် 'အဟ်လိဗိုက်တ်' ဟူသော အသုံးအနှုန်းကို များသောအားဖြင့် ဤသည့်အနက်၌ပင် သုံးနှုန်းထားတော် မူသည်ကိုသာ တွေ့ရှိရပေသည်။ ကြည့်-ကုရ်အာန် (၁၁း၇၃၊ ၁၂း၂၃၊ ၆၅း၁)၊

ဤအာယတ်တော်များတွင် ကြင်ရာတော်များအား အဓိကရည်ညွှန်း မိန့်ဆိုထားတော်မူပေရာ 'အလ်လိဗိုက်တ်' တွင် ကြင်ရာတော်များ အမှန်မုချပါဝင်ကြသည်မှာ ထင်ရှားလှပေသည်။ ထို့အတူ 'အဟ်လိဗိုက်တ်'တွင် သားတော်၊ သမီးတော်များ၊ သားမက်တော်များလည်း ပါဝင်ကြပေသည်။ အချို့သဘောတရား အဖြစ်အနေများအရဆိုသော် သားတော်၊ သမီးတော်များနှင့် သားမက်တော်များသည် 'အဟ်လိဗိုက်တ်' ဟူသော အသုံးအနှုန်းနှင့်ပို၍ပင် ထိုက်တန်ကြပေသည်။

တမန်တော်မြတ်က သမီးတော် ဖာတွိမဟ်၊ သားမက်တော်အလီ၊ မြေးတော်ဟစန်နှင့် မြေးတော် ဟုစိုင်န်တို့အား မိမိ၏ဝတ်ရုံတော်ဖြင့်ရုံ၍ ( اللّٰهم هؤلاء أهل بيتى ) "အိုး... အလ္လာဟ် ဤပုဂ္ဂိုလ်များသည် ကျွန်တော်မျိုး၏အိမ်သူအိမ်သားများ ဖြစ်ကြပါသည်"ဟု လျှောက်ထားခြင်း၊ သမီးတော်အိမ်အနီးမှ ဖြတ်သန်း သွားတော်မူစဉ် (الصلوٰة يا أهل البيت يريد الله ليذهب عنكم الرجس) "အိမ်တော်သူ အိမ်တော်သားများ၊ ဆွလာတ်......" စသည်ဖြင့် အသံပြုတော်မူခဲ့ခြင်းမှာလည်း ဤသည့်သဘောကို ထင်ရှားစေတော်မူရန်ပင် ဖြစ်ပေသည်။

إِنَّ الْمُسْلِمِينَ وَالْمُسْلِمٰتِ
وَالْمُؤْمِنِينَ وَالْمُؤْمِنٰتِ
وَالْقٰنِتِينَ وَالْقٰنِتٰتِ
وَالصّٰدِقِينَ وَالصّٰدِقٰتِ
وَالصّٰبِرِينَ وَالصّٰبِرٰتِ
وَالْخٰشِعِينَ وَالْخٰشِعٰتِ
وَالْمُتَصَدِّقِينَ وَ
الْمُتَصَدِّقٰتِ وَالصَّآئِمِينَ
وَالصّٰٓئِمٰتِ وَالْحٰفِظِينَ
فُرُوجَهُمْ وَالْحٰفِظٰتِ
وَالذّٰكِرِينَ اللّٰهَ كَثِيرًا
وَّ الذّٰكِرٰتِ أَعَدَّ اللّٰهُ
لَهُمْ مَّغْفِرَةً

၃၅။ မုချစင်စစ် "မုစ်လင်မ်" ယောကျာ်းများသည် လည်းကောင်း၊ "မုစ်လင်မ်" မိန်းမများသည်လည်းကောင်း၊ "မုအ်မင်န်" ယောကျာ်းများသည်လည်းကောင်း၊ "မုအ်မင်န်" မိန်းမများသည်လည်းကောင်း၊ အမိန့်တော်ကို လိုက်နာကြသည့် ယောကျာ်းများသည်လည်းကောင်း၊ အမိန့်တော်ကိုလိုက်နာသည့်မိန်းမများသည် လည်းကောင်း၊ သစ္စာဝါဒီယောကျာ်းများသည်လည်းကောင်း၊ သစ္စာဝါဒီ မိန်းမများသည်လည်းကောင်း၊ သည်းခံကြကုန်သောယောကျာ်းများသည်လည်းကောင်း၊ သည်းခံကြကုန်သောမိန်းမများသည်လည်းကောင်း၊ နိဝါတတရားထားရှိကြသော ယောကျာ်းများသည်လည်းကောင်း၊ နိဝါတတရားထားရှိကြသောမိန်းမများသည် လည်းကောင်း၊ အလှူဒါနပြုကြကုန်သော ယောကျာ်းများသည်လည်းကောင်း၊ အလှူဒါနပြုကြကုန်သော မိန်းမများသည်လည်းကောင်း၊ ဆွိယာမ် ဥပုသ်သီလ ဆောက်တည်ကြကုန်သော ယောကျာ်းများသည်လည်းကောင်း၊ ဆွိယာမ် ဥပုသ်သီလ ဆောက်တည်ကြကုန်သော မိန်းမများသည်လည်းကောင်း၊ မိမိတို့၏ အရှက်အင်္ဂါများကို စောင့်ထိန်းကြကုန်သော ယောကျာ်းများသည်လည်းကောင်း၊ မိမိတို့၏အရှက်အင်္ဂါများကို စောင့်ထိန်းကြကုန်သောမိန်းမများသည်လည်းကောင်း၊ အလ္လာဟ်အရှင်မြတ်အား များစွာ အောက်မေ့တသ သတိရကြကုန်သောယောကျာ်းများသည်လည်းကောင်း၊ အောက်မေ့တသ သတိရကြကုန်သောမိန်းမများသည် လည်းကောင်း၊ အလ္လာဟ်အရှင်မြတ်သည် ထိုသူတို့ (အားလုံးတို့)အဖို့ (အပြစ်မှ)လွတ်ငြိမ်းချမ်းသာခွင့်နှင့် ကြီးကျယ်လှစွာသောအကျိုးကို အဆင်သင့်ပြုလုပ်စီမံ၍

وَّاَجْرًا عَظِيْمًا ﴿٣٥﴾

ထားရှိပြီး ဖြစ်တော်မူပေသတည်း။ ၁

---

① **ထုတ်ပြန်ပို့ချတော်မူသည့် အကြောင်း၊**

တခါသော် အချို့မှစ်လင်မ် အမျိုးသမီးများသည် ကြင်ရာတော်များထံလာပြီး "ကုရ်အာန်ကျမ်းမြတ်တွင် ရှင်တို့အကြောင်း ပါရှိသည်၊ ကျွန်မတို့အကြောင်း မပါရှိပါ"ဟု ပြောဆိုကြရာ ဤအာယတ်တော် ကျရောက်လာခဲ့ပေသည်။ ကြည့်-ထာနဝီ။ အချို့ (ရိဝါယတ်)ကျမ်းချက်များအရ၊ ကြင်ရာတော် စလမဟ်သခင်မက တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)ထံတွင် "တမန်တော်မြတ်၊ ကုရ်အာန်ကျမ်းမြတ်တွင် အမျိုးသားများ၏ အကြောင်းများ ပါရှိပါသည်၊ အမျိုးသမီးများ၏ အကြောင်းမပါရှိပါ၊ အသို့ပါနည်း" ဟု လျှောက်ထားသည်တွင် ဤအာယတ်တော် ကျရောက်ခဲ့ပေသည်။ ကြည့်-အစ်ဖ်နူကဆီရ်။

**မှစ်လင်အမျိုးသား အမျိုးသမီးတိုင်း၌ ရှိအပ်သည့် ဂုဏ်ရည်များ၊**

ကုရ်အာန်ကျမ်းမြတ်တွင် အမျိုးသားများ နှင့်ပတ်သက်၍ ကျရောက်ခဲ့သော အမိန့်ပညတ်တော်များသည် များသောအားဖြင့် အမျိုးသမီးများနှင့်လည်း သက်ဆိုင်ပေသည်။ အမျိုးသမီးများအဖို့ ခွဲခြားပြီး အမိန့်ထုတ်ရန်ပင် မလိုပေ။ အမျိုးသမီးများအား နှစ်သိမ့်စေတော်မူရန် အလို့ငှာသာ၊ ဤအာယတ်တော်ကို ထုတ်ပြန်ပို့ချတော်မူခြင်း ဖြစ်သည်။ အမျိုးသမီးများနှင့်သာ သက်ဆိုင်သော အမိန့်ပညတ်တော်များကိုမူ ထုတ်ပြန်ထားတော် မူပြီးဖြစ်ပေသည်။

ဆိုလိုသည်ကား အမျိုးသားဖြစ်စေ၊ အမျိုးသမီးဖြစ်စေ၊ မည်သူ၏ ကြိုးပမ်းဆောင်ရွက်မှုမျှ အလ္လာဟ် အရှင်မြတ်ထံတော်၌ အချည်းနှီးဖြစ်သည်မရှိ။ ကြည့်-ကုရ်အာန် (၃း၁၉၄။ ၄း၁၂၄။ ၁၆း၉၇။ ၄၀း၄၀) အစ္စလာမ်သာသနာရေးရာများတွင် တိုးတက်ပွားများ ဆောက်တည်နိုင်ရန် အမျိုးသားများအတွက် အခွင့်အလမ်းများကို ဖွင့်ပေးထားတော်မူသကဲ့သို့ အမျိုးသမီးများအဖို့လည်း ဖွင့်ပေးထားတော်မူပေသည်။

ဤအရေးတွင် အမျိုးသား၊ အမျိုးသမီးဟူ၍ ခွဲခြားလျက် အလျှင်းမရှိပေ။

မှစ်လင်မ် အမျိုးသား၊ အမျိုးသမီးတိုင်း၌ ရှိအပ်သည့် ဂုဏ်ရည်များမှာ အောက်ပါအတိုင်းဖြစ်သည်။

(၁) အစ္စလာမ်၏ကျင့်စဉ်များဖြစ်သည့် ဆွလာတ်၊ ဆိုဝ်ယာမ်၊ ဇကာသ်၊ဟဂျ် စသည်များကို ဆောက်တည်ခြင်း၊

(၂) မှန်ကန်သော ယုံကြည်ချက်များအပေါ်၌ ရပ်တည်နေခြင်း၊

(၃) ကြည်ဖြူစွာနာခံခြင်း၊

(၄) အရေးကိစ္စအဝဝတွင် မှန်ကန်စွာပြောဆိုကျင့်မူခြင်း၊

(၅) သည်းခံခြင်း၊ ခံနိုင်ရည်ရှိခြင်း၊

(၆) ကျိုးနွံခြင်း၊ နိဝါတတရားလက်ကိုင်ထားခြင်း၊

(၇) ပေးကမ်းလှူဒါန်းခြင်း၊

(၈) (ဆိုဝ်ယာမ်) ဥပုသ်ဆောက်တည်ခြင်း၊

(၉) ကာယိန္ဒြေထိန်းသိမ်းခြင်း၊

(၁၀) အလ္လာဟ်အရှင်မြတ်အား များစွာအောက်မေ့ တသ သတိရခြင်း။

အထက်ပါဂုဏ်ရည်များသည် ကျား/မမရွေး မှစ်လင်မ်တိုင်း၌ရှိအပ်သော ဂုဏ်ရည်များပင် ဖြစ်ပေသည်။ ယင်းသည့် ဂုဏ်ရည်များနှင့် ပြည့်စုံကြကုန်သော မှစ်လင်မ်အမျိုးသား၊ အမျိုးသမီးတို့အဖို့ အလ္လာဟ်အရှင်မြတ်ထံတော်၌ လွတ်ငြိမ်းချမ်းသာခွင့်နှင့် ကြီးကျယ်လှစွာသော ကုသိုလ်အကျိုးများသည် အသင့်ရှိပေသည်။

وَمَا كَانَ لِمُؤْمِنٍ وَّلَا مُؤْمِنَةٍ
اِذَا قَضَى اللّٰهُ وَرَسُوْلُهٗٓ اَمْرًا اَنْ
يَّكُوْنَ لَهُمُ الْخِيَرَةُ مِنْ اَمْرِهِمْ ؕ
وَمَنْ يَّعْصِ اللّٰهَ وَرَسُوْلَهٗ فَقَدْ
ضَلَّ ضَلٰلًا مُّبِيْنًا ۝٣٦

၃၆။ မည်သည့် "မုအ်မင်န်" သက်ဝင်ယုံကြည်သူ ယောကျ်ားတစ်ဦးဦး၌ဖြစ်စေ၊ မည်သည့် သက်ဝင်ယုံကြည်သူ မိန်းမတစ်ဦးတစ်ယောက်၌ဖြစ်စေ၊ အရေးကိစ္စ တစ်စုံတစ်ရာကို အလ္လာဟ်အရှင်မြတ်သည်လည်းကောင်း၊ ထိုအရှင်မြတ်၏ ရစူလ်တမန်တော်မြတ်သည်လည်းကောင်း၊ အမိန့် ချမှတ်တော်မူလိုက်ပါလျှင် ၎င်းတို့၏ (ထို)အရေးကိစ္စနှင့်စပ်လျဉ်း၍ ၎င်းတို့၌ ရွေးချယ်ပိုင်ခွင့်သည် (လုံး၀)မရှိတော့ပြီ။ [၁]

စင်စစ်သော်ကား မည်သူမဆို အလ္လာဟ်အရှင်မြတ်၏အမိန့်တော်ကိုလည်းကောင်း၊ ထိုအရှင်မြတ်၏ ရစူလ်တမန်တော်မြတ်၏ အမိန့်တော်ကိုလည်းကောင်း၊ ဖီဆန်သည်ရှိသော် ဧကန်မလွဲ ထိုသူသည် ထင်ရှားလှစွာသောလမ်းလွဲခြင်းသို့ ရောက်ရှိခဲ့ချေပြီတကား။

---

(၁) လောကီရေးကိစ္စပင်ဖြစ်စေ၊ လောကုတ္တရာရေး ကိစ္စပင်ဖြစ်စေ၊ အရေးကိစ္စတစ်ရပ်ရပ်နှင့် စပ်လျဉ်း၍ အလ္လာဟ်အရှင်မြတ်နှင့် တမန်တော်မြတ် (ဆွလ္လလ္လာဟုအလိုင်ဟိဝစလ္လမ်)က အတိအကျ အမိန့်ချမှတ်တော်မူလိုက်ပြီးသည့်နောက်ပိုင်းတွင် မည်သည့်မုအ်မင်န်ယောကျ်ား၊ မည်သည့်မုအ်မင်န်မိန်းမ၌မျှပင် မိမိကြိုက်နှစ်သက်ရာကို ပြုပိုင်ခွင့်၊ ရွေးချယ်ပိုင်ခွင့် အလျင်းမရှိတော့ပေ။ အလ္လာဟ်အရှင်မြတ်နှင့် တမန်တော်မြတ် (ဆွလ္လလ္လာဟုအလိုင်ဟိဝစလ္လမ်) ချမှတ်တော်မူသည့် အမိန့်တော်ကိုသာ ဦးလည်မသုံ လိုက်နာကျင့်သုံး ကြရမည်သာဖြစ်သည်။

ဤအာယတ်တော်သည် ခမ္မဒိဋ္ဌာန်ဖြစ်သည်။ အရေးကိစ္စအဝဝနှင့်သက်ဆိုင်သည်။ တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)၏ လက်ထက်တော်တွင် ဖြစ်ပေါ်ခဲ့သည့် ပြဿနာတစ်ရပ်ကိုလည်း ရည်ညွှန်းထားသည်။ ထိုပြဿနာကား အခြားမဟုတ်၊ သာဝကကြီးဇိုက်ဒ်နှင့်ဇိုင်နဗ် သခင်မတို့၏ ထိမ်းမြားရေးပင်။

**သာဝကကြီးဇိုက်ဒ်နှင့် ဇိုင်နဗ်သခင်မ။**

ဇိုင်နဗ်သခင်မသည် အဗ်ဒုလ်မွတ္တလိဗ်၏ သမီးဖြစ်သူ အုမိုင်မဟ်၏ သမီးလည်း ဖြစ်သည်။ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)၏ တဝမ်းကွဲနှမလည်းဖြစ်သည်။ ကုရိုက်ရှ်မျိုးနွယ်ဝင် မျက်နှာကြီးတစ်ဦးလည်းဖြစ်သည်။ စိတ်လည်းထက်မြက်သည်။ တမန်တော်မြတ်သည် ဇိုင်နဗ်သခင်မအား သာဝကကြီးဇိုက်ဒ်နှင့် ထိမ်းမြားပေးလိုတော်မူခဲ့ပေသည်။

သာဝကကြီးဇိုက်ဒ်သည် အမှန်မှာ မျိုးရိုးဇာတိ ကောင်းမြတ်သော အရပ်တစ်ဦးပင် ဖြစ်ခဲ့သည်။ သို့ပင်တစေ ငယ်ရွယ်စဉ်အခါတွင် မတရားကျူးကျော်စော်ကားသူတစ်ဦးသည် ၎င်းအားဖမ်းဆီးပြီး မက္ကာမြို့၏ ဈေးတွင် ကျေးကျွန်အဖြစ် ရောင်းစားခဲ့လေသည်။ ခဒီဂျဟ်သခင်မသည် ၎င်းအား ဝယ်ထားလိုက်ပြီး များမကြာမီပင် တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)အား (ဟိဗဟ်)အဖြစ် ပေးလှူခဲ့လေသည်။ ➤➤

▶▶ ဇိုက်ဒ်သည် လူလားမြောက်သော် တစ်နေ့ အရောင်းအဝယ်ကိစ္စနှင့် မိမိ၏နေရင်းဌာန၏ အနီးမှ ဖြတ်သွားခဲ့ရာ ၎င်း၏ဆွေမျိုးများ သိသွားခဲ့ကြ၏။ နောက်ဆုံးတွင် ဇိုက်ဒ်၏ဖခင်၊ ဦးရီးနှင့်ညီနောင်များသည် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)ထံ ရောက်ရှိလာကြကာ အခကြေးငွေယူပြီး ဇိုက်ဒ်ကို ၎င်းတို့အား ပြန်လည်ပေးအပ်တော်မူပါမည့်အကြောင်း မေတ္တာရပ်ခံကြ၏။ တမန်တော်မြတ်က "အခကြေးငွေကိုမလို၊ ဇိုက်ဒ်သည် အသင်တို့နှင့်အတူ ပြန်လည်လိုက်ပါလိုပါက အသင်တို့သည် ဇိုက်ဒ်ကို ဝမ်းသာစွာ ခေါ်ဆောင်သွားနိုင်ကြသည်"ဟု ပြောကြားတော်မူလိုက်လေသည်။ ဇိုက်ဒ်၏ဆွေမျိုးများက ဇိုက်ဒ်အား မိမိတို့နှင့်အတူလိုက်ပါရန် ပြောဆိုကြသောအခါ ဇိုက်ဒ်က "ကျွန်တော်သည် တမန်တော်မြတ်ထံမှ ခွဲခွာ၍ မသွားလိုပါ၊ တမန်တော်မြတ်သည် ကျွန်တော့်ကို မိမိ၏သားသမီးများထက်ပင် ပို၍ချစ်တော်မူပါသည်။ မိဘများထက်ပင် ပို၍သနားကြင်နာတော်မူပါသည်" ဟု ဖြေကြားလိုက်လေသည်။ ထိုအခါ တမန်တော်မြတ်သည် ဇိုက်ဒ်အား ကျေးကျွန်အဖြစ်မှ လွတ်မြောက်စေတော်မူပြီး မိမိ၏သားအဖြစ် မွေးစားထားတော်မူလိုက်လေသည်။ ဇိုက်ဒ်အား တမန်တော်မြတ်က ယင်းသို့ သားအဖြစ် မွေးစားတော်မူလိုက်သည့်အခါ၊ လူအများသည် ထိုခေတ် အရဗ်လူမျိုးတို့၏ ထုံးတမ်းစဉ်လာအရ ဇိုက်ဒ်အား (ဇိုက်ဒ် အစ်ဗ်နုမုဟမ္မဒ်) "မုဟမ္မဒ်၏သား ဇိုက်ဒ်"ဟု ခေါ်ဝေါ်နေခဲ့ကြ၏။ ထို့နောက် ကုရ်အာန်ကျမ်းလာ အာယတ်တော် (၃၃း၅) ကျရောက်လာပြီး၊ သားသမီးများကို ၎င်းတို့၏ဖခင် အရင်းအခြာများကို အကြောင်းပြုပြီး ခေါ်ဝေါ်ကြရမည့်အကြောင်း အမိန့်တော်ကျရောက်လာသောအခါ လူအများသည် သာဝကကြီးဇိုက်ဒ်အား "ဇိုက်ဒ်အစ်ဗ်နုမုဟမ္မဒ်"ဟု ခေါ်ဝေါ်ခြင်းမပြုတော့ပဲ ၎င်း၏ဖခင်အား အကြောင်းပြု၍ "ဇိုက်ဒ်အစ်ဗ်နု ဟာရိဆဟ်" ဟူ၍သာ ခေါ်ဝေါ်ခဲ့ကြလေတော့သည်။

သာဝကကြီး ဇိုက်ဒ်သည် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)က သားအဖြစ် မွေးစားတော်မူခဲ့သည်ကို အကြောင်းပြု၍ "ဇိုက်ဒ်အစ်ဗ်နုမုဟမ္မဒ်"ဟု ခေါ်ဝေါ်ခြင်း ခံနေခဲ့ရာမှ ကုရ်အာန်ကျမ်းလာ အမိန့်တော်အရ၊ "ဇိုက်ဒ်အစ်ဗ်နုမုဟမ္မဒ်" ဟူသော ဂုဏ်ထူးဝိသေသ ဆုံးပါးရသည့်အတွက် ဤသည့်နစ်နာချက်ကို ဖြည့်စွက် (ဖြည့်စွမ်း)ပေးတော်မူရန်အလို့ငှာ ကုရ်အာန်ကျမ်းမြတ်တွင် ဆွဟာဗဟ် သာဝကကြီးများအနက် မည်သည့်သာဝက၏ အမည်နာမကိုမျှ ထုတ်ဖော်ထားခြင်းမပြုပဲ သာဝကကြီးဇိုက်ဒ်၏ အမည်နာမကိုသာ ထူးထူးခြားခြား ထုတ်ဖော်သုံးနှုံး ထားတော်မူခြင်းဖြစ်တန်ရာသည်။ ကြည့်-ကုရ်အာန် (၃၃း၃၇)။

အသို့ပင်ဖြစ်စေ၊ ဇိုင်နဗ်သခင်မ၏ မျိုးနွယ်ဂုဏ်မှာ အလွန်မြင့်နေခဲ့၏။ သာဝကကြီးဇိုက်ဒ်မှာမူ၊ မျိုးရိုးဇာတိ ကောင်းမြတ်ပါလျက် အမြင်အားဖြင့် ကျေးကျွန်ဘဝသို့ ရောက်ခဲ့ရသည်။ အမည်းစက် စွန်းထင်းပြီးကာမှ လွတ်မြောက်ခဲ့ရသော ပုဂ္ဂိုလ်တစ်ဦးဖြစ်နေခဲ့၏။ ထို့အတွက် ဇိုင်နဗ်သခင်မသည် သာဝကကြီး ဇိုက်ဒ်နှင့်ထိမ်းမြားရေးကို မနှစ်သက်ခဲ့ပေ။ ထို့အတူ ဇိုင်နဗ်သခင်မ၏မောင်ကလည်း မနှစ်သက်ခဲ့ပေ။ သို့ရာတွင် အလ္လာဟ်အရှင်မြတ်နှင့် တမန်တော်မြတ်သည် ထိမ်းမြားရေးတွင် ယင်းသည့် မျိုးနွယ်ခွဲခြားမှု၊ လူတန်းစားခွဲခြားမှုစသည့် အဓိပ္ပာယ်ကင်းမဲ့သော အတွေးအခေါ် အဟန့်အတားများကို အလျင်း လိုလားတော်မမူပေ။ ထို့အတွက်ကြောင့်ပင် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် ဇိုင်နဗ်သခင်မနှင့် ၎င်း၏မောင်အား သာဝကကြီး ဇိုက်ဒ်နှင့် ထိမ်းမြားရေးကို လက်ခံကြရန် လေးလေးပင်ပင် တိုက်တွန်းတော်မူခဲ့ခြင်း ဖြစ်ပေသည်။ ထိုအချိန်မှာပင် ဤအာယတ်တော်လည်း ကျရောက်လာခဲ့ပေသည်။

ထိုအခါ ဇိုင်နဗ်သခင်မနှင့် ၎င်း၏မောင်သည် အလ္လာဟ်အရှင်မြတ်နှင့် တမန်တော်မြတ်၏ အာသာဆန္ဒ ရှေ့မှောက်တွင် မိမိတို့၏ အာသာဆန္ဒကို စွန့်လွှတ်ခဲ့ကြလေသည်။ ဇိုင်နဗ်သခင်မသည်လည်း နောက်ဆုံးတွင် သာဝကကြီး ဇိုက်ဒ်နှင့် ထိမ်းမြားခြင်းကို လက်ခံသဘောတူခဲ့လေသည်။

وَإِذْ تَقُولُ لِلَّذِىٓ أَنْعَمَ ٱللَّهُ عَلَيْهِ وَأَنْعَمْتَ عَلَيْهِ أَمْسِكْ عَلَيْكَ زَوْجَكَ وَٱتَّقِ ٱللَّهَ وَتُخْفِى فِى نَفْسِكَ مَا ٱللَّهُ مُبْدِيهِ وَتَخْشَى ٱلنَّاسَ ۚ وَٱللَّهُ أَحَقُّ أَن تَخْشَىٰهُ ۖ فَلَمَّا قَضَىٰ زَيْدٌ مِّنْهَا وَطَرًا زَوَّجْنَٰكَهَا لِكَىْ لَا يَكُونَ عَلَى ٱلْمُؤْمِنِينَ حَرَجٌ فِىٓ أَزْوَٰجِ أَدْعِيَآئِهِمْ إِذَا قَضَوْا۟ مِنْهُنَّ وَطَرًا ۚ وَكَانَ أَمْرُ ٱللَّهِ مَفْعُولًا ﴿٣٧﴾

၃၇။ ၎င်းပြင် (အို-နဗီတမန်တော် ပြန်လည်၍ သတိရပါလေ) အကြင်အခါဝယ် အလ္လာဟ်အရှင်မြတ် သည်လည်းကောင်း၊ အသင်ကိုယ်တိုင်သည်လည်း ကောင်း၊ ကျေးဇူးပြုခဲ့သောသူအား အသင်က "အသင် သည် မိမိဇနီးကို (ကွာရှင်းခြင်းမပြုပဲ) မိမိထံ၌ပင် (တရားဝင်ဇနီးအဖြစ်) ထားရှိပါလေ။ ၎င်းပြင် အသင် သည် အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ပါလေ၊" ဟု ပြောဆို ဆုံးမလျက်ရှိခဲ့၏။ ထို့ပြင် အသင်သည် မိမိစိတ်တွင်းဝယ် အကြင်ကိစ္စကို လျှို့ဝှက်ဖုံးအုပ်၍ ထားလေ၏။ အလ္လာဟ်အရှင်မြတ်သည် ထိုကိစ္စကို (နောက်ဆုံးတွင်) ထင်ရှားစေတော်မူမည်သာ ဖြစ်သည်။ ထိုမှတပါး အသင်သည် လူတို့အား စိုးရိမ်လျက်ရှိခဲ့၏။ စင်စစ်သော်ကား အလ္လာဟ်အရှင်မြတ်အားသာလျှင် အသင်သည် ပိုမိုစိုးရိမ်ထိုက်၏။

ထို့နောက် မုအ်မင်န် သက်ဝင်ယုံကြည်သူတို့၌ ၎င်းတို့၏ မွေးစားသားများ၏ ဇနီးမိန်းမများနှင့် ပတ်သက်၍ ထိုမွေးစားသားများသည် ၎င်းတို့အား အလိုမရှိတော့သည့်အခါ တစ်စုံတရာ ကျပ်တည်းမှုမရှိ ရန် "ဇိုက်ဒ်" သည် ထိုမိန်းမအားအလိုမရှိတော့သည့် အခါ ငါအရှင်မြတ်သည် အသင့်အား ထိုမိန်းမနှင့် ထိမ်းမြား၍ ပေးတော်မူလိုက်၏။ စင်စစ်သော်ကား အလ္လာဟ်အရှင်မြတ်၏အမိန့်တော်သည် ပြီးမြောက် အောင်မြင်မည်သာတည်း။ [၁]

(၁) <u>သာဝကကြီး ဇိုက်ဒ်နှင့် ဇိုင်နဗ်သခင်မတို့၏ အိမ်တွင်းရေးမပြေလည်မှု၊</u>
<u>မွေးစားသားများ၏ ဇနီးမိန်းမများ ပြဿနာဖြေရှင်းမှု၊</u>

သာဝကကြီး ဇိုက်ဒ်နှင့်ဇိုင်နဗ်သခင်မတို့ ထိမ်းမြားကြပြီးသည့်နောက်ပိုင်းတွင် ၎င်းတို့၏အိမ်တွင်းရေးမှာ စိတ်သဘောထားချင်း မတိုက်ဆိုင်သည့်အတွက် အဆင်မပြေခဲ့ပေ။ မကြာခဏဆိုသလို ဇနီးမောင်နှံနှစ်ဦးတို့သည် ကတောက်ကဆဖြစ်နေခဲ့ကြ၏။ ခိုက်ရန်ဖြစ်ပွားနေခဲ့ကြ၏။ ယင်းသို့ ခိုက်ရန်ဖြစ်ပွားတိုင်း သာဝကကြီး ➤➤

➤➤ ဇိုက်ဒ်သည် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)ထံ ဝင်ရောက်တိုင်တန်းခဲ့၏။ "ဤသို့သာ တကျက်ကျက် ဖြစ်နေပါက မိမိသည် မိမိ၏ဇနီးနှင့် ဆက်လက်ပေါင်းသင်းရန် ဖြစ်နိုင်တော့မည် မဟုတ်တော့ကြောင်း" လျှောက်ထားခဲ့၏။ ထိုအခါ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)က သာဝကကြီး ဇိုက်ဒ်အား "ဇိုင်နဗ်သည် ငါ့အားငဲ့ညှာ၍ မိမိ၏အာသာဆန္ဒကို ဆန့်ကျင်ပြီး အသင်နှင့်ထိမ်းမြားခဲ့ခြင်း ဖြစ်သည်၊ ယခုတဖန် အသင်က ဇိုင်နဗ်အား ကွာရှင်းလိုက်မည်ဆိုပါက ဇိုင်နဗ်နှင့် ၎င်း၏သားချင်းများအဖို့ နစ်နာကျိုးယုတ် ဖွယ်ရာ ဖြစ်သွားပေမည်၊ ထို့အတွက် အသင်သည် အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ရိုသေ ခန့်ညားပါ၊ သာမန်ကိစ္စများကို အကြောင်းပြုပြီး အိမ်ထောင်ရေးကို မပျက်ပါစေနှင့်၊ ဖြစ်နိုင်သမျှကြိုးစား၍ အိမ်တွင်းရေးကို ပြေလည်အောင်ပြုလုပ်ပါ၊ မိမိ၏ဇနီးအား မကွာရှင်းပါနှင့်၊ အေးအတူ၊ ပူအမျှ သည်းခံ၍နေပါ" စသည်ဖြင့် ကျိုးကြောင်းပြကာ နားချနေတော်မူခဲ့၏။

တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် သာဝကကြီးဇိုက်ဒ်နှင့် ဇိုင်နဗ်သခင်မတို့၏ အိမ်တွင်းရေးအဆင်ပြေစေရန် ကြိုးစားတော်မူခဲ့သော်လည်း အဆိုပါ ဇနီးမောင်နှံတို့၏ အိမ်တွင်းရေးမှာ မပြေလည်သည်သာမက တစ်နေ့တခြား ပို၍ပင် ဆိုးရွားလာခဲ့ပေသည်။ လင်ခန်းမယားခန်း ပြတ်စဲမည့်အခြေသို့ပင် ဆိုက်ရောက်လာခဲ့လေသည်။

ထိုအခါ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)၏စိတ်တွင် 'ငါသည် ဤဇနီးမောင်နှံ နှစ်ဦးတို့အား ၎င်းတို့၏ အိမ်တွင်းရေးအဆင်ပြေစေရန် အမျိုးမျိုးနားချခဲ့၏။ အမျိုးမျိုးကြိုးစားခဲ့၏။ သို့တစေ ပြဿနာသည် မပြေလည်၊ တစ်နေ့တစ်ခြား ပို၍ပင် ဆိုးရွားလာသည်။ အကယ်တန္တ ဇိုက်ဒ်သည် မဖြစ်သာသည့် အဆုံး ဇိုင်နဗ်အား ပြတ်စဲလိုက်ပါက ဇိုင်နဗ်အဖို့ နစ်နာဖွယ်ရာပင်၊ သို့ဖြစ်လျှင် ဇိုင်နဗ်အား တနည်းတဖုံ နှစ်သိမ့်စေရန်လိုသည်။ ဇိုင်နဗ်အား နှစ်သိမ့်စေရန်မှာ မိမိကိုယ်တိုင်က ဇိုင်နဗ်နှင့် ထိမ်းမြားရမည်၊ သို့မိမိကိုယ်တိုင်က ဇိုင်နဗ်နှင့်ထိမ်းမြားပါက လူများသည် ငါ့အား မိမိ၏မွေးစားသား၏ ဇနီးနှင့်ထိမ်းမြားသည်ဟု ကဲ့ရဲ့ပြစ်တင်ကြမည်' စသည်ဖြင့် အတွေးအခေါ် ပေါက်လာခဲ့ဟန် ရှိခဲ့ပေသည်။

အမှန်မှာ မွေးစားသားသည် သားအရင်းအခြာမဟုတ်၊ မွေးစားသား၏ ဇနီးသည် မွေးစားသောဖခင်၏ ချွေးမအရင်းအခြာလည်း မဟုတ်၊ သို့ရာတွင် အရဗ်တို့သည် ထုံးတမ်းစဉ်လာအရ မွေးစားသားကို သားအရင်း အခြာဟု ထင်မှတ်ယူဆနေခဲ့ကြသည့်အတွက် မွေးစားသားများ၏ ဇနီးများနှင့်ထိမ်းမြားရေးမှာ ပြဿနာကြီးတစ်ရပ် ဖြစ်နေခဲ့၏။ ဤသည့်မှားယွင်းသော အတွေးအခေါ်နှင့် ယင်းသည့် အတွေးအခေါ်မှဖြစ်ပေါ်နေသော အခက်အခဲကို အလ္လာဟ်အရှင်မြတ်သည် တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)အားဖြင့် လက်တွေ့တော်လှန်ဖြေရှင်း ပေးတော်မူလို၏။ သို့မှသာလျှင် နောက်နောင် မုစ်လင်မ်တို့အဖို့ ဤပြဿနာနှင့်စပ်လျဉ်း၍ တစ်စုံတစ်ရာ နောက်ဆံငင်မှု၊ ဇဝေဇဝါဖြစ်မှု၊ သံသယရှိမှုများသည် ထာဝစဉ် ကင်းရှင်းသွားပေမည်။ ထိုအခါ အလ္လာဟ်အရှင်မြတ် သည် နောက်နောင် မုစ်လင်မ်တို့၌ မွေးစားသားများ၏ ဇနီးများနှင့်ပတ်သက်၍ တစ်စုံတစ်ရာ ကျပ်တည်းမှုမရှိစေရန် အတွက် တမန်တော်မြတ် (ဆွာလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)အား ဇိုင်နဗ်သခင်မနှင့် ထိမ်းမြားပေးတော်မူမည့် အကြောင်း ကြိုတင် အသိပေးထားတော်မူခဲ့၏။ (ကြည့်-ဖတ်ဟုလ်ဗာရီ)။

ထိုအခါ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် ဤသည့်အရေးနှင့်စပ်လျဉ်း၍ လူများကဲ့ရဲ့ပြစ်တင်ကြမည်ကို တွေး၍တွေး၍ မိမိ၏စိတ်တွင် စိုးရိမ်နေခဲ့၏။ သို့စိုးရိမ်တော်မူသည့်အတွက် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် ဤအကြောင်းကို မျိုသိပ်ထားတော်မူခဲ့လေသည်။ သို့တစေလည်း အမှန်တရားသည် လူများ၏ကဲ့ရဲ့ပြစ်တင်မှုကြောင့် တိမ်မြုပ်နေမည်မဟုတ်။ ➤➤

مَا كَانَ عَلَى النَّبِيِّ مِنْ حَرَجٍ فِيمَا فَرَضَ اللَّهُ لَهُ ۖ سُنَّةَ اللَّهِ فِي الَّذِينَ خَلَوْا مِنْ قَبْلُ ۚ وَكَانَ أَمْرُ اللَّهِ قَدَرًا مَقْدُورًا ﴿٣٨﴾

၃၈။ အလ္လာဟ်အရှင်မြတ်က နဗီတမန်တော်မြတ် အပေါ်၌ သတ်မှတ်ပြဋ္ဌာန်းတော်မူခဲ့သော ကိစ္စနှင့် စပ်လျဉ်း၍ *ထိုနဗီတမန်တော်မြတ်အပေါ်၌ မည်သို့မျှ အပြစ်တင်ခြင်း မရှိပေ။* ¹ (ဤသည်) ရှေးယခင်က လွန်ခဲ့ကြသောသူတို့ (တမန်တော်တို့)နှင့် ပတ်သက်သည့် အလ္လာဟ်အရှင်မြတ်၏ စည်းကမ်းအတိုင်းပင် ဖြစ်၏။ စင်စစ် အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်သည်ကား ကောင်းမွန်စွာ စီမံပြီးသားဖြစ်ပေသတည်း။

➤➤ အမှန်တရားကို ဖော်ထုတ်ရာတွင် လူများ၏ကဲ့ရဲ့ပြစ်တင်မှုကို မှုနေရန်လည်းမလို။ အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်သည် အတည်ဖြစ်သည်သာ။ နောက်ဆုံးတွင် သာဝကကြီးဇိုက်ဒ်သည် ဇိုင်နဗ်သခင်မအား လင်ခန်းမယားခန်းကို လုံးဝ ဖြတ်လိုက်လေသည်။

သို့လင်ခန်း မယားခန်းဖြတ်ပြီးနောက် လင်ခန်းမယားခန်း ဖြတ်ခြင်းခံရသော အမျိုးသမီးများ စောင့်ဆိုင်းရသည့် "အစ်ဒ္ဒတ်" အချိန်ပိုင်း ကုန်ဆုံးသွားသည့်အခါ အလ္လာဟ်အရှင်မြတ်သည် ဇိုင်နဗ်သခင်မအား တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)နှင့် ထိမ်းမြားပေးတော်မူလိုက်လေသည်။ ဤသို့ဖြင့် မွေးစားသားများ၏ ဇနီးများနှင့်ပတ်သက်၍ ဖြစ်ပေါ်နေခဲ့သည့် ပြဿနာသည် မှစ်လင်မ်တို့အဖို့ အမြဲထာဝစဉ် ရှင်းသွားခဲ့လေသည်။

ဤအကြောင်းမှာ ဤမျှသာဖြစ်သည်။ သို့ရာတွင် ဤနေရာ၌ အချို့ကျမ်းဆရာများနှင့် ရာဇဝင် ဆရာများ၏ အဓိပ္ပာယ်ကင်းမဲ့သော၊ ယုတ္တိယုတ္တာမရှိသော အရေးအသားများကြောင့် ဖြစ်ရပ်မှန် မသိကြသော ပုဂ္ဂိုလ်များအဖို့ သို့လောသို့လောနှင့် တွေးတောစရာ ဖြစ်လာခဲ့ရပေသည်။အမှန်မှာ ၎င်းတို့၏အရေးအသားများမှာ ဖြစ်ရပ်မှန်နှင့် မည်သို့မျှ မပတ်သက်သဖြင့် ၎င်းတို့၏ အရေးအသားများကို ထုတ်ဖော်ရေးသားရန်လည်း မလိုပေ။ ဖြေရှင်းနေရန်လည်း မလိုပေ။

① အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်သည် အတည်ဖြစ်သည်သာ။ ထိုအရှင်မြတ် ကြိုတင်စီမံထားတော်မူသော အရာသည် အကောင်အထည် ဖြစ်ပေါ်လာရသည်ချည်းသာ။ သို့ဖြစ်ရာ ယင်းသို့ကြိုတင်စီမံ ထားတော်မူသော ကိစ္စတစ်ရပ်ကို တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)က ဆောင်ရွက်တော်မူသည့်အတွက် တမန်တော်မြတ်၌ အသို့လျှင် အပြစ်ဆိုဖွယ်ရှိအံ့နည်း။

အတိတ်ခေတ်တွင်လည်း အလ္လာဟ်အရှင်မြတ်၏ "စွန္နတ်" ကျင့်စဉ်မှာ ဤအတိုင်းပင်။ အတိတ်ခေတ်များတွင် ပွင့်တော်မူခဲ့သော တမန်တော်များသည် အလ္လာဟ်အရှင်မြတ်၏ ဒေသနာတော်များကို ဟောကြားခဲ့ကြသည်။ အမိန့်တော်များကို လိုက်နာကျင့်သုံးခဲ့ကြသည်။ အလ္လာဟ်အရှင်မြတ်မှတပါး မည်သူ့ကိုမျှ မကြောက်ခဲ့ကြပေ။ တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်) သည်လည်း အလ္လာဟ်အရှင်မြတ်၏ ဒေသနာတော်များကို စံမတူအောင် ဟောကြားတော်မူသည်။ အမိန့်တော်များကို စွန်းလွန်းတမန် လိုက်နာကျင့်သုံးတော်မူသည်။ မည်သူ့ကိုမျှ ကြောက်တော်မမူ၊ သို့ဖြစ်ရာ ဇိုင်နဗ်သခင်မနှင့် ထိမ်းမြားရေးကိစ္စတွင် မည်သို့မျှ နောက်ဆံငင်ရန် မလိုပေ။ သူမိုက်တို့၏ ကဲ့ရဲ့ပြစ်တင်ခြင်းကို မှုနေရန်လည်း မလိုပေ။

الَّذِينَ يُبَلِّغُونَ رِسَٰلَٰتِ اللَّهِ وَيَخْشَوْنَهُۥ وَلَا يَخْشَوْنَ أَحَدًا إِلَّا اللَّهَ ۗ وَكَفَىٰ بِاللَّهِ حَسِيبًا ٣٩

၃၉။ (ထိုသူတို့ကား) အကြင်သူများပင်၊ ၎င်းတို့သည် အလ္လာဟ်အရှင်မြတ်၏ မိန့်မှာချက်များကို (တိကျမှန်ကန်စွာ) ပို့ဆောင်ကြကုန်၏။ ထို့ပြင် ၎င်းတို့သည် အလ္လာဟ်အရှင်မြတ်အားသာလျှင်ကြောက်ရွံ့ကြကုန်၏။ အလ္လာဟ်အရှင်မြတ်အပြင် မည်သူတစ်ဦးတစ်ယောက်ကိုမျှပင် ကြောက်ရွံ့ကြသည် မဟုတ်ပေ။ စင်စစ် အလ္လာဟ်အရှင်မြတ်သည်ပင် စောကြော စစ်ဆေးတော်မူမည့် အရှင်မြတ်အဖြစ် လုံလောက်တော်မူ၏။

مَّا كَانَ مُحَمَّدٌ أَبَآ أَحَدٍ مِّن رِّجَالِكُمْ وَلَٰكِن رَّسُولَ اللَّهِ وَخَاتَمَ النَّبِيِّـۧنَ ۗ وَكَانَ اللَّهُ بِكُلِّ شَيْءٍ عَلِيمًا ٤٠

၄၀။ *"မုဟမ္မဒ်" သည် အသင်တို့ ယောကျ်ားများအနက်မည်သူတစ်ဦးတစ်ယောက်၏ ဖခင်မျှမဟုတ်ပေ၊*[၁] စင်စစ်မှာမူကား (မုဟမ္မဒ်သည်) အလ္လာဟ်အရှင်မြတ်၏ ရစူလ်တမန်တော်သည်လည်းကောင်း၊ နဗီတမန်တော် *အပေါင်းတို့(၏နုဗုဝါတ်)ကို အဆုံးသတ်သူသည်*[၂] လည်းကောင်း၊ ဖြစ်ပေသည်။ အမှန်စင်စစ် အလ္လာဟ်အရှင်မြတ်သည် အရာခပ်သိမ်းတို့ကို အကြွင်းမဲ့ သိတော်မူသောအရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

---

(၁) တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် ဇိုက်ဒ်ကို သားအဖြစ် မွေးစားတော်မူခဲ့သည်မှာ မှန်၏။ သို့ရာတွင် ယင်းသို့မွေးစားလိုက်ရုံမျှဖြင့် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် ဇိုက်ဒ်၏ ဖခင် (အရင်းအခြာ) ဖြစ်သွားတော်မူသည်လည်းမဟုတ်၊ ဇိုက်ဒ်သည် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)၏ သား(အရင်းအခြာ) ဖြစ်သွားသည်လည်း မဟုတ်၊ ဇိုက်ဒ်ကိုထားဘိဦး၊ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် ယောကျ်ားများအနက် မည်သည့်ယောကျ်ား တစ်ဦးတစ်ယောက်၏ ဖခင်မျှပင် မဟုတ်ခဲ့ပေ။ အဘယ်ကြောင့်ဆိုသော် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)၌ ဖွားမြင်သမျှသော သားယောကျ်ားကလေးများသည် ငယ်ရွယ်စဉ်မှာပင် သေဆုံးသွားခဲ့ကြသည်သာ ဖြစ်ပေသည်။ သို့ဖြစ်ပေရာ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)အဖို့ မိမိ၏ သား၏ဇနီး (ဝါ)မိမိ၏ချွေးမနှင့် ထိမ်းမြားရန် ပြဿနာအသို့လျှင် ပေါ်ပေါက်နိုင်ခဲ့အံ့နည်း။

တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် ယောကျ်ားများအနက် မည်သူတစ်ဦးတစ်ယောက်မျှ၏ ဖခင်မျှမဟုတ်၊ တမန်တော်မြတ်သည် အလ္လာဟ်အရှင်မြတ်၏ တမန်တော်ဖြစ်တော်မူသည်။ တမန်တော်အပေါင်းတို့တွင် အကြီးဆုံး၊ အမြတ်ဆုံး ဖြစ်တော်မူသည်၊ တမန်တော်အပေါင်းတို့၏ တမန်တော်ဖြစ်မှုကို ပြည့်စုံစေတော်မူသော အဆုံးသတ်တော်မူသော တမန်တော် ဖြစ်တော်မူသည်။ 

يَاأَيُّهَا الَّذِينَ آمَنُوا اذْكُرُوا اللَّهَ ذِكْرًا كَثِيرًا ﴿٤١﴾

၄၁။ အို–"မုအ်မင်န်" သက်ဝင်ယုံကြည်သူအပေါင်းတို့၊ အသင်တို့သည် အလ္လာဟ်အရှင်မြတ်အား အလွန်များပြားစွာ အောက်မေ့တသ သတိရကြလေကုန်။

---

➤➤ ဤအကြောင်းကို ရှေ့အာယတ်တော်တွင် မိန့်ဆိုထားတော်မူသည်။ ဤသို့ဖြင့် တမန်တော်မြတ်သည် နောက်လိုက်တပည့်သားတို့အဖို့ သွေးသားဆိုင်ရာ ရုပ်ပိုင်းဆိုင်ရာ ဖခင်ဟုတ်တော်မမူသော်လည်း နာမ်ပိုင်းဆိုင်ရာ ဖခင်ကြီးကား အမှန်ဖြစ်တော် မူပေသည်။ ဤအကြောင်းကုရ်အာန် (၃၃း၆)တွင် ရေးသားခဲ့ပေပြီ။

**(၂) ခါတမွန္နဗီယီန**

အလ္လာဟ်အရှင်မြတ်သည် လူ့လောကကို စတင်ဖန်တင်းတော်မူသည့်အချိန်မှစ၍ လူသားတို့အား တရားမေ့ ဟောညွှန်ပြရန်အလို့ငှာ လူသားတို့အနက်မှပင် အချိန်အခါ အားလျော်စွာ တမန်တော်များအား စေလွှတ်တော်မူခဲ့၏။ ယင်းသို့ဖြင့် ထိုအရှင်မြတ်သည် မြောက်မြားစွာသော တမန်တော်များအား စေလွှတ်တော်မူခဲ့၏။နောက်ဆုံးတွင် တမန်တော်အပေါင်းတို့၏ အချုပ်ဖြစ်တော်မူသော တမန်တော်မြတ် မုဟမ္မဒ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)အား စေလွှတ်တော်မူ၍ အစ္စလာမ်ကို အဖက်ဖက်မှ ပြည့်စုံစေတော်မူပြီး တမန်တော်စေလွှတ်မှုကို အဆုံးသတ်တော်မူလိုက်လေသည်။ တမန်တော်စေလွှတ်မှုအပေါ်၌ တံဆိပ်ခတ်နှိပ်တော် မူလိုက်လေပြီ။ထို့အတွက် တမန်တော်မြတ်၏ အကြီးဆုံးဂုဏ်ထူးတစ်ရပ်မှာ ဤအာယတ်တော်တွင် လာရှိသည့်အတိုင်း (ခါတမွန္နဗီယီန) တမန်တော်အပေါင်းတို့တွင် အဆုံးစွန်၌ ပွင့်တော်မူသော တမန်တော်၊ တမန်တော်အပေါင်းတို့၏ တမန်တော်ဖြစ်မှုကို အဆုံးသတ်တော်မူသော တမန်တော်၊ တမန်တော်အပေါင်းတို့၏ တမန်တော်ဖြစ်မှုအပေါ်၌ ခတ်နှိပ်ထားသော တံဆိပ်တော်ဟူ၍ဖြစ်သည်။

တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)၏ လက်ထက်တော်တွင် အစ္စလာမ်သည် အဖက်ဖက်မှ ပြည့်စုံသွားခဲ့ချေပြီ။ ပြင်ဆင်ဖြည့်စွက် နုတ်ပယ်ရန် အလျှင်းမရှိပြီ။ ဤသည့် ပြည့်စုံသော အစ္စလာမ်သည် ကိယာမတ်တိုင် တည်ရှိနေမည်သာဖြစ်သည်။ တမန်တော်မြတ်၏ (နုဗုဝါတ်) တမန်တော်ဖြစ်မှု၏ အရှိန်အဝါသည်လည်း ကိယာမတ်တိုင် တည်ရှိနေမည်သာဖြစ်သည်။

တမန်တော်မြတ် ကိုယ်တော်တိုင်ကလည်း **"ငါ့နောက် တမန်တော်တပါးမျှပွင့်ရန် မရှိပြီ"** ဟု အတည့်အလင်း မိန့်ကြားတော်မူခဲ့လေပြီ။ သို့ဖြစ်ပေရာ တမန်တော်မြတ်ပွင့်တော်မူပြီးနောက် အခြားတမန်တော် ပွင့်ရန်အကြောင်း အလျှင်းမရှိတော့ပြီ။ ဤအကြောင်းနှင့်စပ်လျဉ်း၍ မုစ်လင်မ်အားလုံး အဆိုညီကြသည်။ အကွဲအလွဲ စိုးစဉ်းမျှမရှိ။ ဤအကြောင်းနှင့်စပ်လျဉ်း၍ ကုရ်အာန်၊ ဟဒီဆ် အစ်ဂျ်မာအ်စသည်တို့ကို ကိုးကား၍ ရေးသားထားသောကျမ်းပေါင်း အမြောက်အမြားလည်း ရှိနေပေသည်။ သို့ပါလျက် ဤအကြောင်းနှင့်စပ်လျဉ်း၍ **ကုရ်အာန်ကျမ်းမြတ်၊ ဟဒီဆ်သြဝါဒတော်နှင့် "အစ်ဂျ်မာအ်" မုစ်လင်မ်တို့၏ တညီတညွတ်တည်း ဆုံးဖြတ်ထားသည့် ဆုံးဖြတ်ချက်ကို သွေဖည်ဆန့်ကျင်ပါက သို့သွေဖည်ဆန့်ကျင်သူသည် ကာဖိရ် ဖြစ်သည်။ အစ္စလာမ့်ဘောင် အပြင်သို့ရောက်ရှိသွားသည်။**

وَسَبِّحُوهُ بُكْرَةً وَأَصِيلًا ﴿٤٢﴾

၄၂။ ထို့ပြင် အသင်တို့သည် နံနက်ယံ၌လည်းကောင်း၊ ညနေချမ်း၌လည်းကောင်း၊ (အမြဲတစေ) ထိုအရှင်မြတ် စင်ကြယ်သန့်ရှင်းတော်မူကြောင်း မြွက်ဆိုကြလေကုန်။

هُوَ الَّذِي يُصَلِّي عَلَيْكُمْ وَمَلَائِكَتُهُ لِيُخْرِجَكُمْ مِنَ الظُّلُمَاتِ إِلَى النُّورِ ۚ وَكَانَ بِالْمُؤْمِنِينَ رَحِيمًا ﴿٤٣﴾

၄၃။ ထိုအရှင်မြတ်သည် အကြင်အရှင်မြတ်ပင်။ ထိုအရှင်မြတ်သည်လည်းကောင်း၊ ထိုအရှင်မြတ်၏ "မလာအိကဟ်" ကောင်းကင်တမန်များသည် လည်းကောင်း၊ အသင်တို့အပေါ်၌ ကောင်းချီးမင်္ဂလာ ပို့လျှက်ရှိကြကုန်၏။ (သို့ပို့တော်မူခြင်းမှာ) ထိုအရှင်မြတ်သည် အသင်တို့အား အမှောင်ထုများမှ အလင်းသို့ ထွက်စေတော်မူအံ့သောငှာဖြစ်၏။

စင်စစ်သော်ကား ထိုအရှင်မြတ်သည် "မုအ်မင်န်" သက်ဝင်ယုံကြည်သူတို့ အပေါ်၌ အလွန်တရာ သနားကြင်နာတော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူ၏။

تَحِيَّتُهُمْ يَوْمَ يَلْقَوْنَهُ سَلَامٌ ۚ وَأَعَدَّ لَهُمْ أَجْرًا كَرِيمًا ﴿٤٤﴾

၄၄။ ၎င်းတို့သည် ထိုအရှင်မြတ်နှင့် တွေ့ဆုံကြသော နေ့တွင် (ထိုအရှင်မြတ်၏) ၎င်းတို့အား နှုတ်ခွန်းဆက်တော်မူမည့် စကားမှာ "စလာမ်" ဟူ၍ပင် ဖြစ်ပေမည်။ ထိုမှတပါး ထိုအရှင်မြတ်သည် ၎င်းတို့အဖို့ မြင့်မြတ်လှစွာသော အကျိုးကို အဆင်သင့် ပြုလုပ်၍ ထားရှိတော်မူပေသတည်း။

يَا أَيُّهَا النَّبِيُّ إِنَّا أَرْسَلْنَاكَ شَاهِدًا وَمُبَشِّرًا وَنَذِيرًا ﴿٤٥﴾

၄၅။ အို-နဗီတမန်တော်၊ ကေန်မလွဲ ငါအရှင်မြတ်သည် အသင့်အား သက်သေအဖြစ်လည်းကောင်း၊ သတင်းကောင်းပြောကြားသူအဖြစ်လည်းကောင်း၊ သတိပေး နှိုးဆော်သူအဖြစ်လည်းကောင်း၊ စေလွှတ်တော်မူ၏။

وَدَاعِيًا إِلَى اللَّهِ بِإِذْنِهِ وَسِرَاجًا مُّنِيرًا ۝٤٦

၄၆။ ထို့ပြင် အလ္လာဟ်အရှင်မြတ်ဘက်တော်သို့ ထိုအရှင်မြတ်၏ အမိန့်တော်နှင့် ဖိတ်ခေါ်သူအဖြစ်လည်းကောင်း၊ လင်းဝင်းတောက်ပသော မီးရှူးမီးတိုင် (သူရိယ)အဖြစ်လည်းကောင်း၊(စေလွှတ်တော်မူ၏၊) [၁]

وَبَشِّرِ الْمُؤْمِنِينَ بِأَنَّ لَهُم مِّنَ اللَّهِ فَضْلًا كَبِيرًا ۝٤٧

၄၇။ ထိုမှတပါး အသင်သည် "မုအ်မင်န်" သက်ဝင်ယုံကြည်သူတို့အား ၎င်းတို့အပေါ်၌ အလ္လာဟ်အရှင်မြတ်ထံတော်မှ ကြီးကျယ်လှစွာသောကျေးဇူးတော်ရှိကြောင်း သတင်းကောင်း ပြောကြားပါလေ။

---

(၁) **<u>တမန်တော်မြတ်၏ ဂုဏ်ပုဒ်များ၊</u>**

အလ္လာဟ်အရှင်မြတ်သည် တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)အား အမျိုးမျိုးသော ဂုဏ်ပုဒ်များဖြင့် ချီးမြှင့်ထားတော်မူသည်။တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)သည် "ရှာဟိဒ်" သက်သေလည်း ဖြစ်တော်မူသည်။ ကိယာမတ်နေ့တွင် နောက်လိုက်တပည့်သားတို့နှင့် စပ်လျဉ်း၍အဆုံးအဖြတ်သည် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)၏ သက်သေထွက်ဆိုချက်အပေါ်၌ တည်ရှိမည်ဖြစ်သည်။ အခြား အဆိုတရပ်အရ ပွင့်လေသမျှသော တမန်တော်အပေါင်းတို့သည် မိမိတို့၏တာဝန်အရ သက်ဆိုင်ရာ နောက်လိုက်တပည့်သားတို့ထံ အလ္လာဟ်အရှင်မြတ်၏ ဒေသနာတော်များကို အသီးသီး ပို့ချတော်မူခဲ့ကြပြီး ဖြစ်ကြောင်းနှင့်စပ်လျဉ်း၍ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)က သက်သေခံတော်မူမည်ဖြစ်သည်။ ကြည့်-ရှုဟ်။

တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် **"မုဗရှိရှစ်ရ်"** လည်း ဖြစ်တော်မူသည်။ မုစ်လင်မ်တို့အား ကောင်းချီးသတင်းလည်း ပေးတော်မူသည်။ တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်) သည် **"နဇီရ်"** လည်း ဖြစ်တော်မူသည်။ ကာဖိရ်၊ မုရှ်ရစ်က်များအား သတိပေး နှိုးဆော်တော်မူသည်။ တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် **"ဒါအီ"** လည်း ဖြစ်တော်မူသည်။ လူသား အားလုံးတို့အား အလ္လာဟ်အရှင်မြတ်ဘက်တော်သို့ ဖိတ်ကြားတော်မူသည်။

တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် **"စိရာဂျန်မုနီရန်"** လင်းဝင်းတောက်ပသော သူရိယလည်း ဖြစ်တော်မူသည်။ လူသားထုကြီး တစ်ရပ်လုံးအား အမှောင်ခွင်း၍ အလင်းဆောင်တော်မူသည်။ သူရိယနေ ထွက်ပေါ်လာသည့်အခါ အခြားအလင်းရောင်များသည် ကွယ်ပျောက်သွားသကဲ့သို့ တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)၏ ဓမ္မသူရိယ ရှေ့မှောက်တွင် အခြား ဓမ္မရောင်ခြည်များသည် ကွယ်ပျောက်သွားချေပြီ။ (မလိုတော့ပြီ)။

ထို့ပြင်တဝ အလ္လာဟ်အရှင်မြတ်သည် တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)အား အကြောင်းပြု၍ နောက်လိုက်တပည့်သားတို့အား ကျန်အုပ်စုအားလုံးတို့ထက် ထူးကဲမြင့်မြတ်မှုကို ချီးမြှင့်ထားတော်မူသည်။

وَلَا تُطِعِ الْكٰفِرِيْنَ وَالْمُنٰفِقِيْنَ
وَدَعْ اَذٰىهُمْ وَتَوَكَّلْ عَلَى اللّٰهِ ۗ
وَكَفٰى بِاللّٰهِ وَكِيْلًا ﴿٤٨﴾

၄၈။ ထို့ပြင် အသင်သည် "ကာဖိရ်" သွေဖည်ငြင်းပယ်ကြကုန်သောသူတို့၏ ပြောဆိုချက်ကိုလည်းကောင်း၊ "မုနာဖစ်က်" အယောင်ဆောင်မုစ်လင်မ်တို့၏ ပြောဆိုချက်ကိုလည်းကောင်း၊ မလိုက်နာလေနှင့်။ ထို့ပြင် အသင်သည် ၎င်းတို့၏ ထိပါးပြောဆိုမှုကို လျစ်လျူရှု၍ အလ္လာဟ်အရှင်မြတ်အပေါ်၌သာ ယုံပုံလွှဲအပ်ထားပါလေ။ စင်စစ်မှာမူကား အလ္လာဟ်အရှင်မြတ်သည်ပင်လျှင် ကိစ္စအဝဝကို ပြီးစီးအောင် ဆောင်ရွက်ပေးတော်မူသောအရှင်မြတ်အဖြစ် လုံလောက်တော်မူပေသတည်း။

يٰٓاَيُّهَا الَّذِيْنَ اٰمَنُوْٓا اِذَا نَكَحْتُمُ
الْمُؤْمِنٰتِ ثُمَّ طَلَّقْتُمُوْهُنَّ
مِنْ قَبْلِ اَنْ تَمَسُّوْهُنَّ فَمَا
لَكُمْ عَلَيْهِنَّ مِنْ عِدَّةٍ
تَعْتَدُّوْنَهَا ۚ فَمَتِّعُوْهُنَّ
وَسَرِّحُوْهُنَّ سَرَاحًا جَمِيْلًا ﴿٤٩﴾

၄၉။ အို–"မုအ်မင်န်" သက်ဝင်ယုံကြည်သူအပေါင်းတို့၊ အကယ်၍ အသင်တို့သည် "မုအ်မင်န်" သက်ဝင်ယုံကြည်သူ အမျိုးသမီးများနှင့် 'နိကာဟ်' ပြု ထိမ်းမြားခဲ့ပြီးနောက် ၎င်းတို့အား ထိတွေ့ခြင်းမပြုကြသေးမီ အသင်တို့သည် တွလာက်ပေး ကွာရှင်းခဲ့ကြလျှင်၊ အသင်တို့နှင့်ပတ်သက်၍ ၎င်းတို့အပေါ်၌ မည်သည့် "အစ်ဒ္ဒတ်" ရက်ဆိုင်းငံ့ခြင်းကိုမျှပင် အသင်တို့ ရေတွက်ကြရန် မရှိတော့ပြီ။ သို့ဖြစ်ပေရာ အသင်တို့သည် ၎င်းတို့အား အကျိုးကျေးဇူး ခံစားစေပြီး ကောင်းမွန်စွာ စွန့်လွှတ်ကြလေကုန်။ [၁]

---

(၁) မုအ်မင်န်ယောကျ်ားတစ်ဦးသည် မုအ်မင်န် အမျိုးသမီးနှင့် ထိမ်းမြားပြီးနောက် ထိတွေ့ခြင်းမရှိပဲ လင်ခန်းမယားခန်းကို ဖြတ်လိုက်ပါက အကယ်၍ (မဟာရ်) ထိမ်းမြားကြေး သတ်မှတ်ပြီး ဖြစ်နေပါလျှင် သတ်မှတ်ထားသော ထိမ်းမြားကြေး၏ တဝက်ပေးရမည်။ သို့မဟုတ်လျှင် အတော်အသင့် အကျိုးခံစားစေ၍ (ဝါ) ထုံးတမ်းစဉ်လာအရ ဝတ်စုံတစ်စုံပေး၍ ကောင်းမွန်စွာ စွန့်လွှတ်လိုက်ရမည်။ ထိုသို့သော အမျိုးသမီးတစ်ဦးသည် ထိုအချိန်မှာပင် ထိမ်းမြားလိုက ထိမ်းမြားနိုင်သည်။ 'အစ်ဒ္ဒတ်' ရက်ဆိုင်းငံ့ရန် မလိုပေ။ ဤအကြောင်းနှင့်ဆက်စပ်၍ ကုရ်အာန် (၂း၂၃၆–၂၃၇)ကို ဆင်ခြင်ပါကုန်။

يَٰٓأَيُّهَا ٱلنَّبِيُّ إِنَّآ أَحۡلَلۡنَا
لَكَ أَزۡوَٰجَكَ ٱلَّٰتِيٓ ءَاتَيۡتَ
أُجُورَهُنَّ وَمَا مَلَكَتۡ يَمِينُكَ
مِمَّآ أَفَآءَ ٱللَّهُ عَلَيۡكَ وَبَنَاتِ
عَمِّكَ وَبَنَاتِ عَمَّٰتِكَ وَبَنَاتِ
خَالِكَ وَبَنَاتِ خَٰلَٰتِكَ ٱلَّٰتِي
هَاجَرۡنَ مَعَكَ وَٱمۡرَأَةٗ
مُّؤۡمِنَةً إِن وَهَبَتۡ نَفۡسَهَا
لِلنَّبِيِّ إِنۡ أَرَادَ ٱلنَّبِيُّ أَن
يَسۡتَنكِحَهَا خَالِصَةٗ لَّكَ مِن
دُونِ ٱلۡمُؤۡمِنِينَ قَدۡ عَلِمۡنَا
مَا فَرَضۡنَا عَلَيۡهِمۡ فِيٓ

၅၀။ အို-နဗီတမန်တော်၊ ဧကန်မလွဲ ငါအရှင်မြတ်သည် အသင် "မဟရ်" ထိမ်းမြားကြေးပေးခဲ့သော အသင်၏ကြင်ရာများကိုလည်းကောင်း၊ အသင့်အား အလ္လာဟ်အရှင်မြတ်က လက်ရပစ္စည်းအဖြစ် ချီးမြှင့်တော်မူခဲ့၍ အသင်ပိုင်ဆိုင်ခဲ့သော ကျွန်မများကိုလည်းကောင်း၊ အသင်နှင့်အတူ ရွှေ့ပြောင်းခဲ့ကြလေသော အသင့် ဘကြီး၊ ဘထွေး၏သမီးများကိုလည်းကောင်း၊ အသင့် မိကြီး၊ မိထွေးများ၏သမီးများကိုလည်းကောင်း၊ အသင့် ဦး၊ ဦးရီးများ၏သမီးများကိုလည်းကောင်း၊ အသင့် အရီးကြီး၊ အရီးလေးများ၏ သမီးများကိုလည်းကောင်း၊ အသင့်အဖို့ ဟလာလ်တရားဝင် ပြုလုပ်တော်မူ၏။ ထိုနည်းတူစွာ "မုအ်မင်န်" သက်ဝင်ယုံကြည်သော အမျိုးသမီးတစ်ဦးသည် မိမိကိုယ်ကို အကယ်၍ နဗီတမန်တော်မြတ်အား (မဟရ် ထိမ်းမြားကြေးမယူဘဲ) သက်သက်ပေးအပ်ခဲ့၍ ထိုနဗီတမန်တော်မြတ်သည်လည်း ထိုအမျိုးသမီးနှင့် ထိမ်းမြားရန် ရည်စူးခဲ့ပါလျှင် ထိုအမျိုးသမီးအားလည်း (တရားဝင်ပြုလုပ်တော်မူ၏။ ဤခွင့်ပြုချက်မှာ) အခြား "မုအ်မင်န်" သက်ဝင်ယုံကြည်သူတို့အဖို့ မဟုတ်ဘဲ သက်သက် အသင်၏ အဖို့ *အထူး(ခွင့်ပြုခြင်းပင်)ဖြစ်၏။* [၁]

---

(၁) **ထိမ်းမြားရေးနှင့်စပ်လျဉ်း၍ တမန်တော်မြတ်၏ အခွင့်ထူးများ၊**

တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)၌ တစုံတရာအကျပ်အတည်း မရှိစေရန်အလို့ငှာ အလ္လာဟ်အရှင်မြတ်သည် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)အား ထိမ်းမြားရေးနှင့်စပ်လျဉ်း၍ အချို့အခွင့်ထူးများကို ချီးမြှင့်ထားတော်မူသည်။

(၁) အလ္လာဟ်အရှင်မြတ်သည် တမန်တော်မြတ်၏ လက်ရှိကြင်ရာတော်များအား တမန်တော်မြတ်သည် ၎င်းတို့အား (မဟရ်) ထိမ်းမြားကြေးလည်း ပေးတော်မူပြီးဖြစ်၍ (ဟလာလ်) တရားဝင် ပြုလုပ်ထားတော်မူသည်။

(၂) အလ္လာဟ်အရှင်မြတ်သည် တမန်တော်မြတ်အား လက်ရပစ္စည်းအဖြစ် ချီးမြှင့်ထားတော်မူသော တမန်တော်မြတ် ပိုင်ဆိုင်ထားတော်မူသော ကျွန်မများကိုလည်း ထိုအရှင်မြတ်သည် တမန်တော်မြတ်အဖို့ (ဟလာလ်) ပြုလုပ်ထားတော်မူသည်။ 

أَزْوَاجِهِمْ وَمَا مَلَكَتْ أَيْمَانُهُمْ لِكَيْلَا يَكُونَ عَلَيْكَ حَرَجٌ ۗ وَكَانَ اللَّهُ غَفُورًا رَّحِيمًا ۝٥٠

ငါအရှင်မြတ်သည် ထိုမှအမ်မင်န် သက်ဝင်ယုံကြည်သူတို့အပေါ်၌ ၎င်းတို့၏ဇနီးမိန်းမများ၊ ၎င်းတို့၏ ကျွန်မများနှင့်ပတ်သက်၍ ထုတ်ပြန်သတ်မှတ်တော်မူခဲ့သော အမိန့်ပညတ်တော်များကို ကောင်းစွာ ငါအရှင်မြတ်သည် သိရှိတော်မူ၏။ (အသင့်အဖို့ ယင်းအထူးအမိန့်တော် ထုတ်ပြန်တော်မူခြင်းမှာ) အသင့်အပေါ်၌ ကျပ်တည်းမှု တစ်စုံတစ်ရာမရှိရန် (ထုတ်ပြန်တော်မူခြင်း)ပင် ဖြစ်ပေသည်။ စင်စစ်သော်ကား အလ္လာဟ်အရှင်မြတ်သည် အလွန်တရာ ခွင့်လွှတ်တော်မူသော၊ အလွန်တရာ သနားကြင်နာ ညှာတာတော်မူသောအရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

تُرْجِي مَن تَشَاءُ مِنْهُنَّ وَتُؤْوِي إِلَيْكَ مَن تَشَاءُ ۖ وَمَنِ ابْتَغَيْتَ مِمَّنْ عَزَلْتَ فَلَا جُنَاحَ

၅၁။ အသင်သည် ထိုကြင်ရာများအနက် မိမိအလိုမရှိသူအားခွဲထား၍ မိမိအလိုရှိသူအား မိမိအပါး၌ ထားရှိနိုင်ပေသည်။ ထိုနည်းတူစွာ အသင်သည် ဘေးဖယ်ထားခဲ့သူအား အလိုရှိခဲ့လျှင်လည်း ပြန်လည်ထားနိုင်သည်။ အသင့်အပေါ်၌ အပြစ်တစ်စုံတစ်ရာမျှ မရှိချေ။

---

➢➢ (၃) အလ္လာဟ်အရှင်မြတ်သည် တမန်တော်မြတ်အဖို့ တမန်တော်မြတ်၏ဘကြီး၊ ဘထွေး၊ မိကြီး၊ မိထွေး၊ ဦးရီး၊ ဦးလေး၊ အရီးကြီး၊ အရီးလေးတို့၏ သမီးများကိုလည်း အကယ်၍ ၎င်းတို့သည် တမန်တော်မြတ်နှင့်အတူ(ဟိဂျ်ရတ်) ရွှေ့ပြောင်းနေထိုင်ခဲ့ကြသည်ရှိသော် (ဟလာလ်) တရားဝင် ပြုလုပ်ထားတော်မူသည်။

(၄) မုစ်လင်မ် အမျိုးသမီး တစ်ဦးသည် အကယ်၍ မိမိကိုယ်ကို တမန်တော်မြတ်အား (မဟရ်) ထိမ်းမြားကြေးမယူပဲ ပေးအပ်သော် တမန်တော်မြတ်ကလည်း ထိုအမျိုးသမီးနှင့် ထိမ်းမြားရန်ရည်ရွယ်တော်မူသော်၊ အလ္လာဟ်အရှင်မြတ်သည် ထိုသို့သောအမျိုးသမီးကိုလည်း တမန်တော်မြတ်အဖို့ (ဟလာလ်) တရားဝင် ပြုလုပ်ထားတော်မူသည်။ (သို့တစေလည်း တမန်တော်မြတ်သည် ဤသည့်အခွင့်အရေးကို အသုံးပြုတော်မမူခဲ့ပေ။ (ဝါ) ထိမ်းမြားကြေးမပေးပဲ ထိမ်းမြားခြင်း ပြုတော်မမူခဲ့ပေ။)

ဤသည့် အခွင့်ထူးများသည် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)အဖို့သာ ဖြစ်သည်။ အခြားမုစ်လင်မ်များအဖို့မဟုတ်၊ ၎င်းတို့အဖို့ အမိန့်ပညတ်များ သီးခြားရှိသည်။ ဥပမာ- မုစ်လင်မ်များအဖို့ မိန်းမ (၄)ယောက် ထက်ပို၍ ထိမ်းမြားပိုင်ခွင့်မရှိ၊ ထိမ်းမြားရာတွင်လည်း (မဟရ်) ထိမ်းမြားကြေး ပေးကြရသည်သာ ဖြစ်သည်။ ကြည့်-ကုရ်အာန် (၄:၂၄)။

عَلَيۡكَ ذٰلِكَ اَدۡنٰۤى اَنۡ تَقَرَّ اَعۡيُنُهُنَّ وَلَا يَحۡزَنَّ وَيَرۡضَيۡنَ بِمَاۤ اٰتَيۡتَهُنَّ كُلُّهُنَّ وَاللّٰهُ يَعۡلَمُ مَا فِىۡ قُلُوۡبِكُمۡ وَكَانَ اللّٰهُ عَلِيۡمًا حَلِيۡمًا ۝٥١

ဤသည် ထိုကြင်ရာတို့၏ မျက်စိအေးရန်၊ ထိုကြင်ရာတို့သည် သောကမဖြစ်ကြရန်၊ ထိုကြင်ရာအားလုံးတို့သည် အသင်ပေးသမျှနှင့် နှစ်သိမ့်ကျေနပ်ကြရန် ပို၍ပင်နီးစပ်၏။ [၁] ၎င်းပြင် အလ္လာဟ်အရှင်မြတ်သည် အသင်တို့၏ စိတ်နှလုံးများ၌ ရှိသမျှတို့ကို ကောင်းစွာ သိရှိတော်မူ၏။ စင်စစ်သော်ကား အလ္လာဟ်အရှင်မြတ်သည် အရာခပ်သိမ်းတို့ကို အကြွင်းမဲ့ သိတော်မူသော၊ အလွန်တရာ သည်းခံတော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

لَا يَحِلُّ لَكَ النِّسَآءُ مِنۡۢ بَعۡدُ وَلَاۤ اَنۡ تَبَدَّلَ بِهِنَّ مِنۡ اَزۡوَاجٍ وَّلَوۡ اَعۡجَبَكَ حُسۡنُهُنَّ اِلَّا مَا مَلَكَتۡ يَمِيۡنُكَ وَكَانَ اللّٰهُ عَلٰى كُلِّ شَىۡءٍ رَّقِيۡبًا ۝٥٢

၅၂။ ဤသည့်နောက်တွင် (အထက် ဖော်ပြပါ အင်္ဂါရပ်များနှင့်မညီသော) အခြား အမျိုးသမီးများသည် အသင့်အဖို့တရားမဝင်တော့ပြီ။ ထိုနည်းတူစွာ လက်ရှိကြင်ရာများ၏အစား အခြား အမျိုးသမီးများကို ၎င်းတို့၏လှပမှုသည် အသင့်အား နှစ်သက်စေခဲ့သော်လည်း အသင်သည် ပြောင်းလဲ(ထိမ်းမြား)နိုင်ခွင့်မရှိချေ။ [၂] သို့ရာတွင် အသင်ပိုင်ဆိုင်သောကျွန်မများကိုမူကား (ပြောင်းလဲနိုင်ခွင့်/ယူပိုင်ခွင့်ရှိ၏)။ စင်စစ်သော်ကား အလ္လာဟ်အရှင်မြတ်သည် အရာခပ်သိမ်းတို့အပေါ်ဝယ် (ကောင်းစွာ) စောင့်ရှောက်တော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

---

(၁) တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် ကြင်ရာတော်များအနက် အလိုရှိသူအား အလိုရှိသမျှ မိမိထံပါးတွင် ထားတော်မူနိုင်သည်။ မိမိထံပါးမှ ခွဲထားလိုသူအား အလိုရှိသမျှ ခွဲထားတော်မူနိုင်သည်။ မိမိထံပါးမှ ခွဲထားသူကိုလည်း အလိုရှိက မိမိထံပါးတွင် ပြန်လည် ခေါ်ထားတော်မူနိုင်သည်။ ဆိုလိုသည်ကား ဇနီးမောင်နှံတို့ အပြန်အလှန် စောင့်သိရှိသေ လေးစားအပ်သော အိမ်တွင်းရေးတာဝန်များအနက် အချို့တာဝန်များနှင့် စပ်လျဉ်း၍ အလ္လာဟ်အရှင်မြတ်သည် တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)အား အစ္စလာမ့်ရေးရာများကို ဆောင်ရွက်ရာ၌ တစ်စုံတစ်ရာ အနှောင့်အယှက်၊ အကျပ်အတည်း မရှိစေရန်အလို့ငှာ တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)၏ အာသာဆန္ဒအလျောက် ပြုလုပ်ပိုင်ခွင့် ပြုထားတော်မူသည်။ သို့ခွင့်ပြုထားတော်မူသည်ဖြစ်ရာ ကြင်ရာတော်များ၌ ယင်းကိစ္စများနှင့်စပ်လျဉ်း၍ တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)ထံ တောင်းဆိုပိုင်ခွင့်လည်း မရှိတော့ပေ။ တောင်းဆိုပိုင်ခွင့် ရှိသူတစ်ဦးမှာ တောင်းဆိုပိုင်ခွင့် ရှိသည့်အလျောက် ➤➤

يَاأَيُّهَا الَّذِينَ آمَنُوا لَا تَدْخُلُوا بُيُوتَ النَّبِيِّ إِلَّا أَنْ يُؤْذَنَ لَكُمْ إِلَىٰ طَعَامٍ غَيْرَ نَاظِرِينَ إِنَاهُ وَلَٰكِنْ إِذَا دُعِيتُمْ فَادْخُلُوا فَإِذَا طَعِمْتُمْ فَانْتَشِرُوا وَلَا مُسْتَأْنِسِينَ لِحَدِيثٍ

၅၃။ အို–"မုအ်မင်န်" သက်ဝင်ယုံကြည်သူအပေါင်းတို့၊ အသင်တို့သည် အစားအစာ စားသုံးရန် ခွင့်ပြုခြင်းခံကြရသည်မှတပါး နဗီတမန်တော်မြတ်၏ အိမ်များတွင် မဝင်ကြကုန်လင့်။ (သို့ခွင့်ပြုခြင်း ခံကြရသော်လည်း အသင်တို့သည်) စားသောက်ရန် အချိန်ကို စောင့်မျှော်သူများ မဖြစ်ကြဘဲ ဖိတ်ခေါ်ခြင်းခံကြရသောအခါမျိုး၌သာလျှင် ဝင်ရောက်ကြလေကုန်။ ထို့နောက် စားသောက်၍ ပြီးကြသောအခါ အသင်တို့သည် လူစုခွဲ၍ (ပြန်ခဲ့)ကြလေကုန်။ ထို့ပြင် (အသင်တို့သည်) စကားစမြည် ပြောဆိုခြင်း၌ စိတ်ဝင်စား၍ ထိုင်မနေကြကုန်လင့်။

---

➤➤ တောင်းဆိုပါလျက် အခွင့်အရေးမရလျှင် နစ်နာဆုံးရှုံးမှုဖြစ်ရသည်ပင်။ ယခုမူကြင်ရာတော်များ၌ ယင်းသို့ တောင်းဆိုပိုင်ခွင့် မရှိတော့၍ နစ်နာဆုံးရှုံးမှုပြဿနာလည်း မပေါ်ချေ။ ကြင်ရာတော်များသည် ဤသည့်အချက်ကို သိနားလည်ခဲ့ကြသည့် အတွက်ကြောင့်ပင်၊ မိမိတို့အား တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်) ပေးတော်မူသမျှ၊ ပြုစုတော်မူသမျှကို အကျေနပ်ကြီးကျေနပ်၍ နေခဲ့ကြပေသည်။

⑵ တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)အဖို့ အထက်[ကုရ်အာန် (၃၃:၅၀)]၌ ဖော်ပြပါရှိသည့် အင်္ဂါရပ်များနှင့်ညီသော အမျိုးသမီးများမှအပ အခြားအမျိုးသမီးများနှင့် ထိမ်းမြားပိုင်ခွင့် မရှိချေ။ လက်ရှိကြင်ရာတော်များကို ပြောင်းလဲခြင်း (ဝါ) အခြားအမျိုးသမီးတစ်ဦးနှင့် ထိမ်းမြားနိုင်ရန်အတွက် လက်ရှိကြင်ရာတော် တစ်ပါးပါးကို ကွာရှင်းပိုင်ခွင့်လည်း မရှိချေ။

တမန်တော်မြတ်သည် ဤအာယတ်တော် ကျရောက်လာပြီးနောက်ပိုင်းတွင် အိမ်ထောင်သစ် ပြုတော်မူခဲ့သည်လည်း မရှိပေ။ လက်ရှိကြင်ရာတော် တစ်ပါးပါးကို ကွာရှင်း၍ အခြားအမျိုးသမီးတစ်ဦးဦးနှင့် ထိမ်းမြားတော်မူခဲ့သည်လည်း မရှိပေ။ ဤအာယတ်တော် ကျရောက်စဉ်က ရှိနေခဲ့ကြသော တမန်တော်မြတ်၏ လက်ရှိကြင်ရာတော်များသည်ပင် တမန်တော်မြတ်(ဝဖာတ်)ကွယ်လွန်အနိစ္စ ရောက်တော်မူသည့်အချိန်တွင် အသက်ထင်ရှား ရှိနေခဲ့ကြပေသည်။ ၎င်းတို့မှာ (၁) ကြင်ရာတော် အာအိရှဟ်၊ (၂) ကြင်ရာတော် ဟင်ဆွဟ်၊ (၃) ကြင်ရာတော် စောင်ဒဟ်၊ (၄)ကြင်ရာတော် အွန်မိစလမဟ်၊ (၅) ကြင်ရာတော်ဇိုင်နဗ်၊ (၆) ကြင်ရာတော် အွန်မိဟဗီဗတ်၊ (၇) ကြင်ရာတော် ဂျူဝိုင်ရီယဟ်၊ (၈) ကြင်ရာတော် ဆွဖီယဟ်၊ (၉) ကြင်ရာတော် မိုင်မူနဟ်။

ကုရ်အာန် (၃၃:၅၀–၅၂) နှင့်စပ်လျဉ်း၍ ထာနဝီသခင်သည် မိမိ၏ကျမ်းတွင် အသေးစိတ် ဖွင့်ဆိုရေးသားထားသည်။ ကျမ်းလေးမည်စိုး၍ မရေးပြီ။ သုတေသီများ ထာနဝီ၊ အစောင် (၉)၊ စာမျက်နှာ (၅၆–၆၀)တွင် ရှုပါကုန်။

إِنَّ ذَٰلِكُمْ كَانَ يُؤْذِي النَّبِيَّ فَيَسْتَحْيِي مِنكُمْ ۖ وَاللَّهُ لَا يَسْتَحْيِي مِنَ الْحَقِّ ۚ وَإِذَا سَأَلْتُمُوهُنَّ مَتَاعًا فَاسْأَلُوهُنَّ مِن وَرَاءِ حِجَابٍ ۚ

ဧကန်စင်စစ် ဤသည် နဗီတမန်တော်မြတ်အား စိတ်ဒုက္ခဖြစ်စေ၏။ သို့ပါသော်လည်း နဗီတမန်တော်မြတ်သည် အသင်တို့ကို အားနာတော်မူ၏။ သို့ရာတွင် အလ္လာဟ်အရှင်မြတ်မှာမူကား မှန်ကန်သောစကား ပြောကြားတော်မူရန် အားနာတော်မူသည် မဟုတ်ပေ။ [၁] ၎င်းအပြင် အသင်တို့သည် ထိုနဗီတမန်တော်မြတ်၏ကြင်ရာတော်များထံ ဝတ္ထုပစ္စည်းတစ်စုံတစ်ရာကို တောင်းကြသောအခါ ကန့်လန့်ကာ၏နောက်ကွယ်မှ တောင်းကြလေကုန်။ [၂]

---

(၁) **သူတစ်ပါးအိမ်သို့ သွားလာရာတွင် စောင့်စည်းအပ်သည့် ယဉ်ကျေးမှုများ၊**

အိမာန် သက်ဝင် ယုံကြည်သော မုစ်လင်မ်များသည် အခွင့်မရှိပဲ တမန်တော်မြတ်(ဆွလ္လလ္လာဟုအလိုင်ဟိဝစလ္လမ်)၏ အိမ်များတွင် ဝင်ထွက်သွားလာခြင်း မပြုကြရာ။ ထမင်းစားသုံးရန်အတွက် ဖိတ်ကြားတော်မူပါက သွားလာနိုင်ကြပေသည်။ သို့သွားကြရာတွင်လည်း အချိန်စော၍ မသွားကြရာ။ အချိန်စော၍သွားကြပါက တမန်တော်မြတ်၏ အိမ်များတွင် စားဖွယ်သောက်ဖွယ်များ အသင့်ဖြစ်သည်အထိ ထိုင်၍စောင့်မျှော်နေကြရပေမည်။ ဤသို့ကား မဖြစ်ရာ။ စားသောက်ပြီးပါကလည်း ပြန်ကြရာသည်။ ထိုင်၍ စကားလက်ဆုံ ကျမနေရာ။ ဤသို့ ပြုလုပ်ခြင်းများဖြင့် တမန်တော်မြတ်၏ အိမ်တော်သူ၊ အိမ်တော်သားများအား အနှောင့်အယှက်ပြုရာကျသည်။ တမန်တော်မြတ်အား စိတ်ဒုက္ခပေးရာရောက်သည်။ တမန်တော်မြတ်သည် ကိုယ်ရေးကိုယ်တာကိစ္စများတွင် အလွန်အားနာတော်မူသည်။ မိမိမှာ ဒုက္ခဖြစ်ရသော်လည်း ဖွင့်ဟ၍မပြောရက်ရှာပေ။ သို့အတွက် အလ္လာဟ်အရှင်မြတ်က ဖွင့်ဟမိန့်ကြားထားတော် မူခြင်းဖြစ်သည်။

**မှတ်ချက်။** ဤအာယတ်တော်များသည် တမန်တော်မြတ်၏ အိမ်တော်များသို့ မုစ်လင်မ်များ ဝင်ထွက်သွားလာစားသောက်မှုများနှင့်ပတ်သက်၍ ကျရောက်လာခဲ့သော အာယတ်တော်များဖြစ်သော်လည်း အလိုသဘောမှာ မုစ်လင်မ်အားလုံးတို့အား သူတပါးအိမ်သို့ သွားလာလည်ပတ် စားသောက်ရာတွင် လိုက်နာစောင့်စည်းအပ်သည့် ယဉ်ကျေးမှုများကို သင်ကြားပြသတော်မူရန်ပင် ဖြစ်သည်။ ဆိုလိုသည်ကား သူတပါးအိမ်သို့ အခွင့်မရှိပဲမဝင်ရာ။ ဖိတ်ကြားချက်မရှိပဲ အလှူအိမ်သို့မသွားရာ၊ ဧည့်မြှောင်မလုပ်ရာ၊ ဖိတ်ကြားချက်ရှိ၍ သွားလာရာတွင်လည်း အချိန်နှင့်သွားလာရပေမည်။ အချိန်မကျမီ ကြိုတင်သွားရောက်ကာ ထိုင်၍ အစည်းအဝေးပြုလုပ်မနေရာ။ စားသောက်ပြီးပါကလည်း ပြန်ရမည်သာ။ ထိုင်၍စကားလက်ဆုံ ကျမနေရာ။ အိမ်ရှင်အားမည်သို့မျှ ဒုက္ခမပေးရာ။

(၂) **မွတ်စ်လင်မ် အမျိုးသမီးများ ဟိဂျာဗ် ထားကြရမည်၊**

အထက်တွင် မုစ်လင်မ်များ တမန်တော်မြတ်၏အိမ်တော်များသို့ ဝင်ထွက်လိုကြသည့်အခါ စောင့်စည်းအပ်သည့် ယဉ်ကျေးမှုများအကြောင်း ပါရှိခဲ့၏။ ယခုဤအာယတ်တော်တွင် မုစ်လင်မ်များ ကြင်ရာတော်များထံမှ တစ်စုံတစ်ရာတောင်းကြသည့်အခါ မည်သို့မည်ပုံ တောင်းကြရမည့်အကြောင်းကို မိန့်ဆိုထားတော်မူသည်။ မုစ်လင်မ်များသည် ကြင်ရာတော်များထံမှ ဝတ္ထုပစ္စည်းတစ်စုံတစ်ရာ တောင်းခံကြသည့်အခါ (ဟိဂျာဗ်)➤➤

ذَٰلِكُمْ أَطْهَرُ لِقُلُوبِكُمْ وَقُلُوبِهِنَّ ۚ وَمَا كَانَ لَكُمْ أَن تُؤْذُوا رَسُولَ اللَّهِ وَلَا أَن تَنكِحُوا أَزْوَاجَهُ مِن بَعْدِهِ أَبَدًا ۚ إِنَّ ذَٰلِكُمْ كَانَ عِندَ اللَّهِ عَظِيمًا ﴿٥٣﴾

ဤသည် အသင်တို့၏ စိတ်နှလုံးများကိုလည်းကောင်း၊ ထို ကြင်ရာတော်များ၏ စိတ်နှလုံးများကိုလည်းကောင်း၊ ပိုမို၍ပင် သန့်စင်စေ၏။ စင်စစ်သော်ကား အသင်တို့၌ အလ္လာဟ်အရှင်မြတ်၏ ရစူလ်တမန်*တော်မြတ်အား စိတ်ဒုက္ခပေးပိုင်ခွင့်လည်းမရှိချေ၊* [၁] ထိုနဗီတမန်တော်မြတ် မရှိသည့်နောက်တွင် ထိုနဗီတမန်တော်မြတ်၏ *ကြင်ရာတော်များနှင့် မည်သည့်အခါ၌မျှ ထိမ်းမြားပိုင်ခွင့်လည်းမရှိပေ။* [၂] ဧကန်မလွဲ ဤသည် အလ္လာဟ်အရှင်မြတ်အထံတော်၌ အလွန်ကြီးလေးသော၊ အပြစ်ဖြစ်သောအမှုပင် ဖြစ်ပေသည်။

---

➤➤ အကာအကွယ်၏နောက်မှနေ၍ တောင်းကြရမည်။ ဤသို့ အကာအကွယ်၏နောက်မှနေ၍ တောင်းခြင်းဖြင့် နှစ်ဦးနှစ်ဘက်လုံး စိတ်နှလုံးပို၍ သန့်ရှင်းနိုင်ပေသည်။ သို့လောသို့လော တွေးထင်ဖွယ်ရာများလည်း လုံး၀ သန့်ရှင်းသွားပေမည်။

ဤအာယတ်တော်သည် တမန်တော်မြတ်၏ ကြင်ရာတော်များနှင့်သာ သက်ဆိုင်သည်မဟုတ်၊ မုစ်လင်မ်အမျိုးသမီးများ အားလုံးနှင့်လည်း သက်ဆိုင်ပေသည်။(ကြည့်-ကုရ်တုဗီ)။

ဤအာယတ်တော်ဖြင့် မုစ်လင်မ်အမျိုးသမီးတို့အဖို့ (ဟိဂျာဗ်) အကာအကွယ်ထားခြင်းသည် ဖရည်တာ၀န်ဖြစ်လာခဲ့ပေသည်။ ဤအာယတ်တော်သည် ဟိဂျာဗ်အကြောင်း ပါရှိသော ကုရ်အာန်ကျမ်းလာ အာယတ်တော် (၃၃း၃၃)အလျင် ကျရောက်ခဲ့ပေသည်။ ယင်းအာယတ်တော်သည် ဤအာယတ်တော်ကို ထောက်ခံလေးနက်စေသည်။ ဟိဂျာဗ်အကြောင်း ကုရ်အာန် (၃၃း၃၃)တွင် အကျယ်ရေးသားခဲ့ပေပြီ။

**(၁) <u>တမန်တော်မြတ်အား စိတ်ဒုက္ခ မပေးရာ၊</u>**

ကာဖိရ်၊ မုရှ်ရစ်က်၊ မုနာဖစ်က်တို့သည် တမန်တော်မြတ်အား မည်သို့ပင် စိတ်ဒုက္ခပေးကြစေကာမူ မုစ်လင်မ်တို့သည် ထင်ရှားသော သက်သေလက္ခဏာ၊ ခိုင်မာသော အထောက်အထားများဖြင့် တမန်တော်မြတ်၏ လွန်စွာဖြူစင်သန့်ရှင်းမှု၊ အတိုင်းမသိ မှန်ကန်မှုများကို မျက်ဝါးထင်ထင် တွေ့မြင်ကြပြီးဖြစ်ပေရာ မိမိတို့ လွန်စွာ ချစ်ကြည်ရိုသေ မြတ်နိုးကြသောတမန်တော်မြတ်အား သက်တော်ထင်ရှား ရှိတော်မူစဉ်အချိန်တွင်လည်းကောင်း၊ ကွယ်လွန်အနိစ္စ ရောက်တော်မူပြီး နောက်တွင်လည်းကောင်း၊ တမန်တော်မြတ်အား စိတ်ဒုက္ခဖြစ်စေမည့် မည်သည့်အကြံအစည်၊ မည်သည့်အပြောအဆို၊ မည်သည့်အပြုအမူကိုမျှ မည်သည့်အဆင့်အတန်း၌မျှ မေ့မှား၍မျှ မကျူးလွန်မိကြရာ။

**(၂) <u>ကြင်ရာတော်များနှင့် မထိမ်းမြားရာ၊</u>**

အထက်တွင် တမန်တော်မြတ်အား မည်သို့မျှ မေ့မှား၍မျှ စိတ်ဒုက္ခမပေးရမည့်အကြောင်းပါရှိခဲ့၏။ တမန်တော်မြတ်အား စိတ်ဒုက္ခဖြစ်စေမည့်အရာများတွင် တမန်တော်မြတ်သက်တော်ထင်ရှားရှိစဉ် တမန်တော်မြတ်၏ ကြင်ရာတော်တပါးပါးနှင့် ထိမ်းမြားလိုကြောင်း တနည်းတဖုံ ပြောဆိုမိခြင်း၊ တမန်တော်မြတ် ➤➤

إِن تُبْدُوا شَيْـًٔا أَوْ تُخْفُوهُ فَإِنَّ ٱللَّهَ كَانَ بِكُلِّ شَىْءٍ عَلِيمًا ﴿٥٤﴾

၅၄။ အကယ်၍ အသင်တို့သည် တစုံတရာကို ထုတ်ဖော်ကြသည်ဖြစ်စေ၊ သို့တည်းမဟုတ် အသင်တို့သည် ထိုအရာကို (စိတ်တွင်း၀ယ်) ထိမ်ချန် လျှို့ဝှက်ထားကြသည်ဖြစ်စေ၊ မည်သို့ပင်ဖြစ်စေ ကေန်စင်စစ် အလ္လာဟ်အရှင်မြတ်သည် အရာခပ်သိမ်းတို့ကို အကြွင်းမဲ့ သိတော်မူသောအရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

لَّا جُنَاحَ عَلَيْهِنَّ فِىٓ ءَابَآئِهِنَّ وَلَآ أَبْنَآئِهِنَّ وَلَآ إِخْوَٰنِهِنَّ وَلَآ أَبْنَآءِ إِخْوَٰنِهِنَّ وَلَآ أَبْنَآءِ أَخَوَٰتِهِنَّ وَلَا نِسَآئِهِنَّ وَلَا مَا مَلَكَتْ أَيْمَٰنُهُنَّ ۗ وَٱتَّقِينَ ٱللَّهَ ۚ إِنَّ ٱللَّهَ كَانَ عَلَىٰ كُلِّ شَىْءٍ شَهِيدًا ﴿٥٥﴾

၅၅။ ထိုကြင်ရာတော်များအပေါ်ဝယ် မိမိတို့ ဖခင်များ(၏ ရှေ့သို့ထွက်ခြင်း)၌လည်းကောင်း၊ မိမိတို့ သားများ(၏ရှေ့သို့ထွက်ခြင်း)၌လည်းကောင်း၊ မိမိတို့ အစ်ကိုများ၊ မောင်များ(၏ရှေ့သို့ထွက်ခြင်း)၌လည်းကောင်း၊ မိမိတို့၏အစ်ကိုများ၊ မောင်များ၏သားများ (၏ရှေ့သို့ထွက်ခြင်း)၌လည်းကောင်း၊ ထိုနည်းတူစွာ မိမိတို့၏ အစ်မများ၊ ညီမများ၏သားများ(၏ရှေ့သို့ ထွက်ခြင်း)၌လည်းကောင်း၊ မိမိတို့ (သာသနာဝင်) မိန်းမချင်းတို့(၏ ရှေ့သို့ထွက်ခြင်း)၌လည်းကောင်း၊ မိမိတို့၏လက်ယာလက်များက ပိုင်ဆိုင်ကြသော ကျွန်မများ(၏ ရှေ့သို့ထွက်ခြင်း)၌လည်းကောင်း၊ မည်သို့မျှ အပြစ်မရှိချေ။ [၁]

➤➤ ကွယ်လွန်အနိစ္စ ရောက်တော်မူပြီးနောက် ကြင်ရာတော်တပါးပါးနှင့် ထိမ်းမြားရန် ကြံစည်အားထုတ်ခြင်းသည်လည်း ပါဝင်နေသည်ဖြစ်ရာ၊ ဤအာယတ်တော်တွင် တပည့်သားတို့၌ တမန်တော်မြတ်၏ ကြင်ရာတော်များနှင့် မည်သည့်အခါ၌မျှ ထိမ်းမြားနိုင်ခွင့်မရှိကြောင်း အတိအလင်း ပိတ်ပင် တားဆီးထားတော်မူခြင်းဖြစ်သည်။

ဤအကြောင်းနှင့်ဆက်စပ်၍ ကုရ်အာန် (၃၃း၆) ကို ပြန်လည်ရှုပါကုန်။

(၁) အထက်တွင်ကြင်ရာတော်များ "ဟိဂျာဗ်" ထားကြရမည့်အကြောင်း ပါရှိ၏။ ယခု ဤအာယတ်တော်တွင် "ဟိဂျာဗ်"မထားပဲ သွားနိုင်သော (မဟ်ရမ်) သားချင်းအရင်းအချာများကို ဖော်ပြထားတော်မူသည်။ ဤအာယတ်တော်တွင် ပါရှိသော ဟိဂျာဗ်ထားရန်မလိုသော သားချင်းများအရေအတွက်မှာ အပြည့်အဝ မဟုတ်ပေ။ အခြား မုစ်လင်မ်အမျိုးသမီးများ "ဟိဂျာဗ်" မထားပဲ သွားလာနိုင်သော (မဟ်ရမ်) သားချင်းများ၏အကြောင်း ကုရ်အာန် (၂၄း၃၁)တွင် ပါရှိခဲ့ချေပြီ။ ဤ "ဟိဂျာဗ်"ဆိုင်ရာ အမိန့်ပညတ်တွင် အခြားမုစ်လင်မ် အမျိုးသမီးများနှင့် ကြင်ရာတော်များသည် အတူတူပင် ဖြစ်ကြပေသည်။

ထိုမှတပါး (အို-ကြင်ရာတော်အပေါင်းတို့၊) အသင်မတို့သည် အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ကြလေကုန်။ ဧကန်မလွဲ အလ္လာဟ်အရှင်မြတ်သည် အရာခပ်သိမ်းတို့အပေါ်ဝယ် အသိသက်သေဖြစ်တော်မူပေသတည်း။

إِنَّ اللَّهَ وَمَلَٰٓئِكَتَهُۥ يُصَلُّونَ عَلَى النَّبِيِّ ۚ يَٰٓأَيُّهَا الَّذِينَ ءَامَنُوا۟ صَلُّوا۟ عَلَيْهِ وَسَلِّمُوا۟ تَسْلِيمًا ﴿٥٦﴾

၅၆။ ဧကန်အမှန် အလ္လာဟ်အရှင်မြတ်သည်လည်းကောင်း၊ ထိုအရှင်မြတ်၏ "မလာအိကဟ်" ကောင်းကင်တမန်များသည်လည်းကောင်း၊ နဗီတမန်တော်မြတ်အပေါ်ဝယ် ကောင်းချီးမင်္ဂလာ ပို့သကြကုန်၏။ အို- "မုအ်မင်န်" သက်ဝင်ယုံကြည်သူအပေါင်းတို့၊ အသင်တို့သည်လည်း ထိုနဗီတမန်တော်မြတ်အပေါ်ဝယ် ကောင်းချီးမင်္ဂလာ ပို့သခြင်းကိုလည်းကောင်း၊ လွန်စွာ *"စလာမ်" မေတ္တာပို့သခြင်းကိုလည်းကောင်း ပြုကြလေကုန်။* [၁]

---

(၁) **တမန်တော်မြတ်အပေါ် မေတ္တာပို့ကြကုန်လော့။**

အလ္လာဟ်အရှင်မြတ်သည် တမန်တော်မြတ်အား ချီးမြှင့်မြှောက်စားတော်မူရန် အလို့ငှာ အထက်တွင်လည်း တမန်တော်မြတ်၏ ဂုဏ်ရည်များကို အမျိုးမျိုး ထုတ်ဖော်မိန့်ဆိုထားတော်မူသည်။ ယခု ဤအာယတ်တော်တွင် တမန်တော်မြတ်အပေါ်သို့ အလ္လာဟ်အရှင်မြတ် ကိုယ်တော်တိုင် မေတ္တာပို့သတော် မူသည့်အကြောင်း၊ ထိုအရှင်မြတ်၏ ကောင်းကင်တမန်များကလည်း တမန်တော်မြတ်အပေါ်သို့ မေတ္တာပို့သကြကြောင်း၊ သို့ဖြစ်၍ အီမာန်သက်ဝင် ယုံကြည်သော မုစ်လင်မ်အပေါင်းတို့သည်လည်း တမန်တော်မြတ်အပေါ်သို့ မေတ္တာပို့သကြရမည့်အကြောင်း မိန့်ဆိုထားတော်မူသည်။

အလ္လာဟ်အရှင်မြတ်၏ မေတ္တာပို့သမှု၊ ကောင်းကင်တမန်တို့၏ မေတ္တာပို့သမှု၊ မုစ်လင်မ်တို့၏ မေတ္တာပို့သမှုများသည် အမည်အားဖြင့် အချင်းချင်းတူညီသည်ဟု ထင်မှတ်ရသော်လည်း အမှန်မှာ အသို့လျှင်တူနိုင်အံ့နည်း။ အလ္လာဟ်အရှင်မြတ်၏ မေတ္တာသည် ထိုအရှင်မြတ်၏ ဂုဏ်တော်နှင့်လျော်ကန်သော မေတ္တာသာဖြစ်ချိမ့်မည်။ ထို့အတူ ကောင်းကင်တမန်များနှင့် မုစ်လင်မ်များ၏ မေတ္တာသည်လည်း ၎င်းတို့နှင့်ထိုက်တန်သော မေတ္တာသာဖြစ်ချိမ့်မည်။

ထို့အတွက်ကြောင့်ပင် အာလင်မ်ပညာရှင်များက "အလ္လာဟ်အရှင်မြတ်၏ မေတ္တာပို့သတော် မူခြင်းမှာ ကရုဏာတော် သက်ရောက်စေတော်မူခြင်း၊ ကျေနပ်နှစ်သက်တော်မူခြင်းကို ဆိုလိုသည်။ ကောင်းကင် တမန်များ၏ မေတ္တာပို့သခြင်းမှာ ဆုပန်ခြင်း၊ လွတ်ငြိမ်းခွင့် ပန်ကြားခြင်းကို ဆိုလိုသည်။ မုစ်လင်မ်များ၏ မေတ္တာပို့သခြင်းမှာ ဆုမွန်တောင်းခြင်း၊ ရိုသေလေးစားမြတ်နိုးခြင်းကို ဆိုလိုသည်" ဟူ၍ အနက်ဖွင့်ကြပေသည်။ ➢➢

إِنَّ الَّذِينَ يُؤْذُونَ اللَّهَ وَرَسُولَهُ لَعَنَهُمُ اللَّهُ فِي الدُّنْيَا وَالْآخِرَةِ وَأَعَدَّ لَهُمْ عَذَابًا مُّهِينًا ﴿٥٧﴾

၅၇။ ဧကန်မလွဲ အလ္လာဟ်အရှင်မြတ်အားလည်းကောင်း၊ ထိုအရှင်မြတ်၏ ရစူလ်တမန်တော်မြတ်အားလည်းကောင်း၊ စိတ်ဒုက္ခပေးကြကုန်သော သူတို့အား အလ္လာဟ်အရှင်မြတ်သည် လောကီဘဝ၌လည်းကောင်း၊ "အာခိရတ်" တမလွန်ဘဝ၌လည်းကောင်း၊ ကရုဏာတော်မှ ကင်းဝေးစေတော်မူသည့်အပြင် ထိုအရှင်မြတ်သည် ၎င်းတို့အဖို့ ဂုဏ်ရည်သေးသိမ်စေသောပြစ်ဒဏ်ကိုလည်း အဆင်သင့်ပြုလုပ်၍ ထားရှိတော်မူ၏။ ¹

---

>> الصلوٰة من الله رحمته ورضوانه ومن الملٰئكة الدعاء والاستغفار ومن الأمة الدعاء والتعظيم لأمره ( قرطبى )

ဤအာယတ်တော် ကျရောက်လာသည့်အခါ (ဆွဟာဗဟ်) သာဝကကြီးများက တမန်တော်မြတ်၊ တမန်တော်မြတ်အပေါ်သို့ မည်သို့မည်ပုံ "စလာမ်" ပို့သရသည့်အကြောင်း ကျွန်တော်များ သိပြီးဖြစ်ပါသည်။ (ဆွာလတ်ဝတ်ပြုရာတွင်) "တရှဟ်ဟွဒ်" ၌ ရွတ်ဖတ်ရသော

(السلام عليك أيها النبى ورحمة الله وبركاتهٗ)

ဟူသော စာတမ်းသည် စလာမ်မေတ္တာ ဖြစ်ပါသည်။

"ဆွလာတ်" ပို့သနည်းကား အသို့ပါနည်း၊ ဟု လျှောက်ထားမေးမြန်းကြရာ တမန်တော်မြတ်က အောက်ပါ အတိုင်း ဆွလာတ်ပို့သကြရန် သင်ကြားပြသတော်မူခဲ့လေသည်။

اللّٰهم صلّ على محمد وعلى اٰل محمد كما صلّيت على اِبراهيم وعلى اٰل اِبراهيم اِنك حميد مجيد
اللّٰهم بارك على محمد وعلى اٰل محمد كما باركت على اِبراهيم وعلى اٰل اِبراهيم اِنك حميد مجيد

(၁) အထက်တွင် မုစ်လင်မ်များသည် တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)အား မည်သည့်အခါ၌မျှ မည်သို့မျှ စိတ်ဒုက္ခ မပေးကြရမည့်အကြောင်း၊ တမန်တော်မြတ်အား လွန်စွာ ချစ်ကြည်မြတ်နိုးကြရမည့်အကြောင်း၊ တမန်တော်မြတ် အပေါ်သို့ မေတ္တာပို့သကြရမည့်အကြောင်းများ ပါရှိခဲ့၏။ ယခု ဤအာယတ်တော်တွင် တမန်တော်မြတ်အား စိတ်ဒုက္ခပေးသော သူယုတ်တို့သည် နှစ်ဘဝလုံးတွင် အလ္လာဟ်အရှင်မြတ်၏ ကရုဏာတော်နှင့် ကင်းဝေးကြရမည့်အကြောင်း၊ အလွန်ဆိုးရွားသော ဂုဏ်ရည်သေးသိမ်စေသော ပြစ်ဒဏ်ခံစားကြရမည့်အကြောင်း မိန့်ဆိုထားတော်မူသည်။

တမန်တော်မြတ်သည် အလ္လာဟ်အရှင်မြတ် စေလွှတ်တော်မူသော တမန်တော်ဖြစ်ပေရာ တမန်တော်မြတ်အား ဒုက္ခပေးခြင်းသည် တမန်တော်မြတ်ကို စေလွှတ်တော်မူသော အလ္လာဟ်အရှင်မြတ်အား ဒုက္ခပေးရာ ရောက်ခြင်းကြောင့်ဖြစ်သည်။ သို့တည်းမဟုတ် အလ္လာဟ်အရှင်မြတ်အား ဒုက္ခပေးခြင်းဟူသည် ထိုအရှင်မြတ်နှင့် ပတ်သက်၍ မလျော်ကန်သောစကားများ သုံးနှုန်းပြောဆိုခြင်းကိုလည်း ဆိုနိုင်ပေသည်။

وَالَّذِينَ يُؤْذُونَ الْمُؤْمِنِينَ
وَالْمُؤْمِنَٰتِ بِغَيْرِ مَا اكْتَسَبُوا
فَقَدِ احْتَمَلُوا بُهْتَٰنًا
وَإِثْمًا مُّبِينًا ﴿٥٨﴾

၅၈။ "မုအ်မင်န်" သက်ဝင်ယုံကြည်သူ ယောကျ်ား၊ မိန်းမများအား၊ ၎င်းတို့တစုံတရာကို ကျူးလွန်ကြသည် မရှိဘဲလျက် စိတ်ဒုက္ခပေးကြသောသူတို့မှာမူကား မတရားယိုးစွပ်မှုကိုလည်းကောင်း၊ ထင်ရှားစွာသော ပြစ်မှုကိုလည်းကောင်း၊ ထမ်းဆောင်ခဲ့ကြကုန်သတည်း၊[1]

يَٰٓأَيُّهَا النَّبِيُّ قُل لِّأَزْوَٰجِكَ
وَبَنَاتِكَ وَنِسَآءِ الْمُؤْمِنِينَ
يُدْنِينَ عَلَيْهِنَّ مِن
جَلَٰبِيبِهِنَّ ذَٰلِكَ أَدْنَىٰٓ أَن
يُعْرَفْنَ فَلَا يُؤْذَيْنَ وَكَانَ
اللَّهُ غَفُورًا رَّحِيمًا ﴿٥٩﴾

၅၉။ အို-နဗီတမန်တော်၊ အသင်သည် မိမိ၏ ကြင်ရာတော်များအားလည်းကောင်း၊ မိမိ၏သမီးတော်များအားလည်းကောင်း၊ "မုအ်မင်န်" သက်ဝင်ယုံကြည်သူတို့၏ ဇနီးမိန်းမများအားလည်းကောင်း၊ "ထိုသူတို့သည် မိမိတို့၏အပေါ်ရုံ (စောင်/ခြုံထည်)များကို မိမိတို့အပေါ်၌ အနည်းငယ် ဆွဲချ/တွဲလွဲချ ထားကြရမည်" ဟု ပြောကြားပါလေ။ ဤသည် ၎င်းတို့အား ခွဲခြားမှတ်မိရန် ပိုမို၍ နီးစပ်၏။ သို့ဖြစ်ပေရာ ၎င်းတို့သည် *နှောင့်ယှက်ခြင်းခံကြရမည် မဟုတ်ပေ။*[2] ၎င်းပြင် အလ္လာဟ်အရှင်မြတ်သည် အလွန်တရာ ခွင့်လွှတ်ချမ်းသာပေးတော်မူသော၊ အလွန်သနားကြင်နာညှာတာတော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူသည်။

---

(၁) အချို့သူယုတ်မာများသည် တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်) နှင့် ပတ်သက်၍လည်းကောင်း၊ ကြင်ရာတော်များနှင့် ပတ်သက်၍လည်းကောင်း မဟုတ်မမှန်လုပ်ကြံ၍ ထိပါးပုတ်ခတ်ပြောဆိုလေ့ ရှိခဲ့ကြပေသည်။ ဤသည်ကား အပြစ်မရှိသူအား မတရားစွပ်စွဲပြောဆိုခြင်း၊ ထင်ရှားသောပြစ်မှုကို ကျူးလွန်ခြင်းသာဖြစ်သည်။ ဤပြစ်မှုတွင် မုနာဖစ်က်များသည် ရှေ့ဆုံးမှ ပါဝင်ခဲ့ကြလေသည်။ ဤအကြောင်း ကုရ်အာန်(၂၄း၄-၂၆)တွင် ပါရှိခဲ့ချေပြီ။

ယင်းသို့သော သူယုတ်မာတို့၏ ဘေးအန္တရာယ်မှ မုစ်လင်မ်အမျိုးသမီးတို့အား ကာကွယ်နိုင်ရန်အတွက် မည်သို့မည်ပုံ စီစဉ်ရမည့်အကြောင်း ရှေ့အာယတ်တော်များတွင် မိန့်ဆိုထားတော်မူသည်။

(၂) **မွတ်စ်လင်မ်အမျိုးသမီးများသည် အန္တရာယ်ရှိက မျက်နှာကိုပါ ဖုံးဖိထားရာသည်၊**

(ရိဝါယာတ်) ကျမ်းချက်များတွင် လာရှိသည်မှာ မုစ်လင်မ်အမျိုးသမီးများ ကျင်ကြီးကျင်ငယ် သွားရန်အတွက် အပြင်သို့ထွက်ကြသည့်အခါ မုနာဖစ်က် သူယုတ်မာများသည် ချောင်းမြောင်းစောင့်စားငုံ့မျှော်၍ အနှောင့်အယှက်ပေးလေ့ ရှိခဲ့ကြသည်။ သို့နှောင့်ယှက်ကြသည်ကို လက်ပူးလက်ကြပ် ဖမ်းဆီးမိသောအခါ ➢➢

لَىِٕنۡ لَّمۡ يَنۡتَهِ الۡمُنٰفِقُوۡنَ وَالَّذِيۡنَ فِىۡ قُلُوۡبِهِمۡ مَّرَضٌ وَّالۡمُرۡجِفُوۡنَ فِى الۡمَدِيۡنَةِ لَـنُغۡرِيَنَّكَ بِهِمۡ ثُمَّ لَا يُجَاوِرُوۡنَكَ فِيۡهَاۤ اِلَّا قَلِيۡلًا ۛۚ ۞٦٠

၆၀။ အမှန်စင်စစ်သော်ကား အကယ်၍ မုနာဖစ်က် အယောင်ဆောင် မုစ်လင်မ်တို့သည်လည်းကောင်း၊ စိတ်တွင်းဝယ် ရောဂါဝေဒနာ ရှိသူတို့သည်လည်း ကောင်း၊ မဒီနာမြို့တွင်း၌ ထိတ်လန့်ဖွယ် သတင်း လွှင့်သူတို့သည်လည်းကောင်း၊ (မိမိတို့၏ အပြုအမူ များကို) မရပ်စဲခဲ့ကြလျှင် ကေန်မလွဲ ငါအရှင်မြတ်သည် အသင့်အား ၎င်းတို့အပေါ်ဝယ် လွှမ်းမိုးစေတော်မူမည်။ ထို့နောက် ၎င်းတို့သည် အသင့်ထံတွင် "မဒီနာ" မြို့၌ အနည်းငယ်မျှသော ကာလမှတပါး နေကြရမည် မဟုတ်ပေ။

مَّلۡعُوۡنِيۡنَ ۛۚ اَيۡنَمَا ثُقِفُوۡۤا اُخِذُوۡا وَقُتِّلُوۡا تَقۡتِيۡلًا ۞٦١

၆၁။ (ယင်းကဲ့သို့ အနည်းငယ်မျှသော ကာလတိုင် အောင် နေပင်နေကြရငြားသော်လည်း ၎င်းတို့မှာ) ကရုဏာတော်မှကင်းဝေးစေခြင်း ခံကြရသူများအဖြစ် (နေကြရသည့်ပြင်) မည်သည့်နေရာ၌မဆို တွေ့ရှိခဲ့ ကြရလျှင် ၎င်းတို့သည် ဖမ်းဆီးခြင်းခံကြရပေမည်။ ထို့ပြင် ၎င်းတို့သည် ပြင်းထန်စွာ သတ်ဖြတ်ခြင်းကို ခံကြရပေမည်။

---

➤➤ ၎င်းတို့က "ကျွန်ုပ်တို့သည် ဂုဏ်သရေရှိအမျိုးသမီးဟူ၍ မထင်မိကြပါ၊ ကျေးကျွန်များထင်မှတ်ကာ အနှောင့်အယှက်ပေးမိခြင်းသာ ဖြစ်ပါသည်"ဟု ဖြေဆိုလေ့ရှိခဲ့ကြသည်။ ထိုအခါ ဤအာယတ်တော် ကျရောက် လာခဲ့ပေသည်။ ဤအာယတ်တော်၏ အလိုသဘောမှာ မုစ်လင်မ်အမျိုးသမီးများသည် အကြောင်းကိစ္စရှိ၍ အပြင် ထွက်ကြသည့်အခါ ကိုယ်ခန္ဓာကို ဖုံးဖိကြရုံသာမက ခြုံထည်များကို ဦးခေါင်းပေါ်မှ မျက်နှာပေါ်သို့လည်း ဆွဲချထားကြရမည်။ ဤသို့ပြုလုပ်ခြင်းဖြင့် ဂုဏ်သရေရှိ မုစ်လင်မ် အမျိုးသမီးများ ဖြစ်ကြသည်ကို အလွယ်တကူ ခွဲခြားသိရှိနိုင်ပေမည်။ သို့သိရှိရလျှင် သူယုတ်မာများသည် အနှောင့်အယှက် ပေးဝံ့ကြမည် မဟုတ်ပေ။ ဤ အာယတ်တော် ကျရောက်လာသည့်အခါ မုစ်လင်မ်အမျိုးသမီးများသည် ကိုယ်ခန္ဓာကို ဖုံးဖိကြသည်သာမက ဦးခေါင်းပေါ်မှ ခြုံထည်စကို မျက်နှာပေါ်သို့လည်း ဆွဲချကာ လုံခြုံစွာ သွားလာလေ့ရှိခဲ့ကြလေသည်။

ဤသည်ကို ထောက်ရှုခြင်းအားဖြင့် မုစ်လင်မ်အမျိုးသမီးများသည် မျက်နှာကိုပါ ဖုံးအုပ်ထားကြရမည့် အကြောင်း ကောင်းစွာသိရှိနိုင်ပေသည်။

ဤအာယတ်တော်တွင် ပါရှိသော "ဂျလာဗီဗ်" ဟူသောပုဒ်သည် "ဂျိလ်ဗာဗ်"၏ ဗဟုဝုစ်ကိန်းဖြစ်သည်။ "ဂျိလ်ဗာဗ်"ဟူသည် ကိုယ်ခန္ဓာတစ်ခုလုံးကို ခြုံရုံနိုင်သော စောင်ကြီးကို ဆိုလိုသည်။ (ကြည့်-ကုရ်တုဗီ)

سُنَّةَ اللَّهِ فِي الَّذِينَ
خَلَوْا مِن قَبْلُ ۖ وَلَن تَجِدَ
لِسُنَّةِ اللَّهِ تَبْدِيلًا ﴿٦٢﴾

၆၂။ ဤသည် ရှေးအထက်ကျော်ကာလ၌ လွန်လေခဲ့ကြသောသူတို့နှင့်ပတ်သက်၍ အလ္လာဟ်အရှင်မြတ်၏ ဥပဒေစည်းကမ်းပင်။ စင်စစ် အသင်သည် အလ္လာဟ်အရှင်မြတ်၏ ဥပဒေစည်းကမ်း၌ မည်သည့်ပြောင်းလဲမှုကိုမျှပင် အလျှင်းတွေ့ရှိလိမ့်မည် မဟုတ်ပေတကား။

يَسْأَلُكَ النَّاسُ عَنِ السَّاعَةِ ۖ
قُلْ إِنَّمَا عِلْمُهَا عِندَ اللَّهِ ۚ
وَمَا يُدْرِيكَ لَعَلَّ السَّاعَةَ
تَكُونُ قَرِيبًا ﴿٦٣﴾

၆၃။ လူတို့သည် "ကိယာမတ်" ရှင်ပြန်ထမည့် အချိန်ကာလနှင့် စပ်လျဉ်း၍ အသင့်အား မေးမြန်းကြကုန်၏။ (အို-နဗီတမန်တော်) အသင်သည် ပြောကြားပါလေ။ (အချင်းတို့၊) ယင်း"ကိယာမတ်" ရှင်ပြန်ထမည့် အချိန်ကာလနှင့် စပ်လျဉ်းသော အသိပညာကား အလ္လာဟ်အရှင်မြတ်၌သာရှိ၏။ အသင်သည် အသို့လျှင် သိနိုင်ပါအံ့နည်း။ စင်စစ် ရှင်ပြန်ထမည့် အချိန်*ကာလသည် နီးကပ်လျက် ရှိတန်ရာသည်။* [၁၀]

---

(၁၀) **ကိယာမတ်၊**

အထက်ပါ ကုရ်အာန်(၃၃း၅၇)၌ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)အား ဒုက္ခပေးသူများသည် ဤပစ္စုပ္ပန်တွင်လည်းကောင်း၊ နောင်တမလွန်ဘဝတွင်လည်းကောင်း၊ အလ္လာဟ်အရှင်မြတ်၏ ကရုဏာတော်နှင့်ကင်းဆေးကြရမည့်အကြောင်း၊ ဂုဏ်အသရေ သေးသိမ်စေမည့် ပြစ်ဒဏ်ခံကြရမည့်အကြောင်း ပါရှိ၏။ အဆိုပါအာယတ်တော်တွင် ကိယာမတ်ဖြစ်မည့်အကြောင်း၊ နောင်တမလွန်ဘဝရှိသည့်အကြောင်းများ ပါရှိ၏။ တမန်တော်မြတ်အား စိတ်ဒုက္ခပေးကြသူများတွင် အချို့သူများသည် ဤသည်တို့ကို မယုံကြည်ခဲ့ကြပေ။ ထို့အတွက် ၎င်းတို့က "ကိယာမတ် ဘယ်တော့ဖြစ်မည်နည်း" ဟု ပြက်ရယ်ပြောင်လှောင်သည့် သဘောဖြင့်မေးကြ၏။ ထိုအခါ ဤအာယတ်တော် ကျရောက်လာခဲ့လေသည်။

ကိယာမတ်သည် တစ်ရက်မုချဖြစ်မည်။ သို့ရာတွင် ကိယာမတ်ဖြစ်မည့် အချိန်ပိုင်းအတိအကျကိုမူ အလ္လာဟ်အရှင်မြတ်သာလျှင် သိတော်မူသည်။ ကိယာမတ်ဖြစ်မည့်အချိန်သည် ယခင်ထက်စာလျှင် အလွန်နီးကပ်လာချေပြီ။ ဤသည်ကို ရည်ညွှန်း၍ တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်) ကလည်း "ကျွန်ုပ်နှင့်ကိယာမတ်သည် ဤလက်ညှိုးနှင့် လက်ခလယ်ကဲ့သို့ ဖြစ်သည်"ဟု နှိုင်းယှဉ် မိန့်ကြားတော်မူခဲ့သည်။

إِنَّ اللَّهَ لَعَنَ الْكَافِرِينَ وَأَعَدَّ لَهُمْ سَعِيرًا ﴿٦٤﴾

၆၄။ ကေန်မလွဲ အလ္လာဟ်အရှင်မြတ်သည် "ကာဖိရ်" သွေဖည်ငြင်းပယ်ကြသော သူတို့အား ကရုဏာတော်မှ ကင်းဝေးစေတော်မူခဲ့၏။ ၎င်းပြင် ထိုအရှင်မြတ်သည် ထိုသူတို့အဖို့ အလျှံပြောင်ပြောင် တောက်လောင်လျက် ရှိသော မီးတောက်မီးလျှံကို အဆင်သင့် ပြုလုပ်၍ ထားတော်မူ၏။

خَالِدِينَ فِيهَا أَبَدًا ۖ لَّا يَجِدُونَ وَلِيًّا وَلَا نَصِيرًا ﴿٦٥﴾

၆၅။ ၎င်းတို့သည် ယင်းမီး၌ အမြဲမပြတ် နေထိုင်လျက်ရှိကြပေမည်။ ၎င်းတို့သည် မည်သည့် စောင့်ရှောက်သောသူကိုမျှလည်း တွေ့ရှိကြမည်မဟုတ်ချေ။ မည်သည့်ကာကွယ်မည့် သူကိုမျှလည်း တွေ့ရှိကြမည် မဟုတ်ပေ။

يَوْمَ تُقَلَّبُ وُجُوهُهُمْ فِي النَّارِ يَقُولُونَ يَا لَيْتَنَا أَطَعْنَا اللَّهَ وَأَطَعْنَا الرَّسُولَا ﴿٦٦﴾

၆၆။ ၎င်းတို့၏ မျက်နှာများသည် မီးထဲ၌ လှည့်ပြောင်းခြင်းခံကြရသောနေ့တွင် ၎င်းတို့က "သြော်-ငါတို့သည် အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်ကို လိုက်နာခဲ့ကြလျှင်လည်းကောင်း၊ ရစူလ်တမန်တော်မြတ်၏အမိန့်တော်ကို လိုက်နာခဲ့ကြလျှင်လည်းကောင်း၊ ကောင်းလေစွတကား" ဟု ပြောဆို (ညည်းညူ)ကြပေမည်။

وَقَالُوا رَبَّنَا إِنَّا أَطَعْنَا سَادَتَنَا وَكُبَرَاءَنَا فَأَضَلُّونَا السَّبِيلَا ﴿٦٧﴾

၆၇။ ထိုမှတပါး ၎င်းတို့သည် လျှောက်ထားကြပေမည်။ "အို-ကျွန်တော်မျိုးတို့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်၊ ကေန်စင်စစ် ကျွန်တော်မျိုးတို့သည် မိမိတို့၏ခေါင်းဆောင်များနှင့် မိမိတို့၏ အကြီးအကဲများ၏စကားကို နာခံမိခဲ့ကြပါသည်။ ၎င်းတို့သည် ကျွန်တော်မျိုးတို့အား လမ်းလွဲမှားစေခဲ့ကြပါသည်။

رَبَّنَآ اٰتِهِمۡ ضِعۡفَيۡنِ مِنَ الۡعَذَابِ وَالۡعَنۡهُمۡ لَعۡنًا كَبِيۡرًا ۝٦٨

၆၈။ အို-ကျွန်တော်မျိုးတို့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်၊ အရှင်မြတ်သည် ၎င်းတို့အား ပြစ်ဒဏ်နှစ်ဆပေးတော်မူပါ။ ထို့မှတပါး အရှင်မြတ်သည် ၎င်းတို့အား ကရုဏာတော်မှ အလွန့်အလွန် ကင်းဝေးစေတော်မူပါ။”

يٰۤاَيُّهَا الَّذِيۡنَ اٰمَنُوۡا لَا تَكُوۡنُوۡا كَالَّذِيۡنَ اٰذَوۡا مُوۡسٰى فَبَرَّاَهُ اللّٰهُ مِمَّا قَالُوۡا ؕ وَكَانَ عِنۡدَ اللّٰهِ وَجِيۡهًا ۝٦٩

၆၉။ အို-“မုအ်မင်န်” သက်ဝင်ယုံကြည်သူအပေါင်းတို့၊ အသင်တို့သည် အကြင်သူတို့ကဲ့သို့ မဖြစ်ကြကုန်လင့်။ ထိုသူတို့သည် မူစာအား စိတ်ဒုက္ခပေးခဲ့ကြကုန်၏။ ထို့နောက် အလ္လာဟ်အရှင်မြတ်သည် ထိုမူစာအား ၎င်းတို့၏ ပြောဆိုစွပ်စွဲချက်များမှ အပြစ်ကင်းကြောင်း ထင်ရှားစေတော်မူခဲ့၏။ စင်စစ် ထိုမူစာသည် *အလ္လာဟ်အရှင်မြတ်အထံတော်၌ ဂုဏ်ကျက်သရေနှင့် အလွန်ပြည့်စုံသူပင် ဖြစ်ခဲ့ပေသတည်း။* [၁]

يٰۤاَيُّهَا الَّذِيۡنَ اٰمَنُوا اتَّقُوا اللّٰهَ وَقُوۡلُوۡا قَوۡلًا سَدِيۡدًا ۝٧٠

၇၀။ အို-“မုအ်မင်န်” သက်ဝင်ယုံကြည်သူအပေါင်းတို့၊ အသင်တို့သည် အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ကြလေကုန်။ ထို့မှတပါး အသင်တို့သည် တည်ကြည်ဖြောင့်မတ်သောစကားကို ပြောဆိုကြလေကုန်။ [၂]

---

(၁) မုစ်လင်မ်များသည် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)အား ထိခိုက်နစ်နာစေမည့် မည်သည့်အကြံအစည်၊ အပြောအဆို၊ အပြုအမူကိုမျှ မကြံစည်ရာ၊ မပြောဆိုရာ၊ မပြုမူရာ။ သို့ကြံစည်ပြောဆိုပြုမူခြင်းဖြင့်လည်း တမန်တော်မြတ်၌ မည်သို့မျှ နစ်နာဆုံးရှုံးမှုမဖြစ်ပေ။ အဘယ်ကြောင့်ဆိုသော် တမန်တော်မြတ်သည် အလ္လာဟ်အရှင်မြတ်အထံတော်၌ အလွန်တရာမျှ ဂုဏ်အသရေရှိသည်။ ထိုအရှင်မြတ်သည် တမန်တော်မြတ်အား အမြဲတစေ ကာကွယ်ထိန်းသိမ်း ကူညီတော်မူသည်။ တမန်တော်မြတ်နှင့် ပတ်သက်၍ မဟုတ်မမှန်လုပ်ကြံစွပ်စွဲ ပြောဆိုသော စကားများကိုလည်း ပယ်ဖျက်၍ တမန်တော်မြတ်သည် ယင်းသည့်စကားရပ်များနှင့် မည်သို့မျှမပတ်သက်ကြောင်းကို ထင်ရှားပြတော်မူသည်သာ ဖြစ်သည်။ သို့အတွက် တမန်တော်မြတ်အား ထိပါး ပုတ်ခတ် ပြောဆိုကြသောသူများသည် တမန်တော်မြတ်၌ တစ်စုံတစ်ရာ ထိခိုက်နစ်နာစေ ကြသည်မဟုတ်ပဲ မိမိတို့ကိုယ်ကိုသာ မိမိတို့ဆုံးရှုံးနစ်နာအောင် ပြုလုပ်ကြခြင်းသာ ဖြစ်သည်။

အတိတ်ခေတ်တွင် တမန်တော်မူစာ (အလိုင်ဟစ္စလာမ်)နှင့် ပတ်သက်၍လည်း သူယုတ်မာတို့က မဟုတ်မမှန်လုပ်ကြံစွပ်စွဲ ပြောဆိုခဲ့ကြသည်။ သို့ရာတွင် တမန်တော်မူစာသည် အလ္လာဟ်အရှင်မြတ်ထံတော်တွင် ➤➤

يُّصۡلِحۡ لَكُمۡ اَعۡمَالَكُمۡ وَيَغۡفِرۡ لَكُمۡ ذُنُوۡبَكُمۡ ؕ وَمَنۡ يُّطِعِ اللّٰهَ وَرَسُوۡلَهٗ فَقَدۡ فَازَ فَوۡزًا عَظِيۡمًا ۝٧١

၇၁။ ထိုအရှင်မြတ်သည် အသင်တို့အဖို့ အသင်တို့၏ ပြုမူကျင့်ဆောင်ချက်များကို ပြုပြင်၍ ပေးသနားတော် မူပေမည်။ ထိုမှတပါး ထိုအရှင်မြတ်သည် အသင်တို့အဖို့ အသင်တို့၏ ပြစ်မှုဒုစရိုက်များကို ခွင့်လွှတ်တော်မူပေမည်။

စင်စစ်သော်ကား မည်သူမဆို အလ္လာဟ်အရှင်မြတ်၏အမိန့်တော်ကိုလည်းကောင်း၊ ထိုအရှင်မြတ်၏ ရစူလ်တမန်တော်မြတ်၏ အမိန့်တော်ကိုလည်းကောင်း၊ လိုက်နာပါမူ မလွဲကေန် ထိုသူသည် ကြီးကျယ်စွာ အောင်မြင်ပြီး ဖြစ်မည်တကား။ [၁]

---

➤➤ အလွန် ဂုဏ်အသရေရှိလေရာ ထိုအရှင်မြတ်သည် တမန်တော်မူစာနှင့်ပတ်သက်၍ ယိုးစွပ် ပြောဆိုကြသော စကားများကို ပယ်ဖျက်၍ ယင်းစကားများသည် တမန်တော်မူစာနှင့် မည်သို့မျှမပတ်သက်ကြောင်း၊ တမန်တော် မူစာသည် အပြစ်ကင်းစင်ကြောင်းကို ထင်ရှားပြတော် မူခဲ့လေသည်။

(၂) **'တက္ကဝါ' နှင့် သစ္စာ၊**

မုအ်မင်န်တို့သည် -

(၁) မိမိတို့၏ သက်တမ်းတစ်လျှောက်လုံး၌ အရေးကိစ္စအဝဝတွင် အခါခပ်သိမ်း အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ရိုသေခန့်ညားကြရမည်။

(၂) ပြောဆိုရာတွင် အပိုအလိုမပါ၊ တိကျမှန်ကန်စွာ ပြောဆိုကြရပေမည်။ မုအ်မင်န်တို့သည် ဤသည့်အရည်အချင်း နှစ်ရပ်ကိုသာ ခါးဝတ်ပုဆိုးပမာ၊ ထိန်းသိမ်းထားနိုင်ကြပါက၊ အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့၏ အပြုအမူများကို ပြုပြင်ပေးတော် မူမည်သာမက၊ ၎င်းတို့၏ ပြစ်မှုများကိုလည်း ခွင့်လွှတ်တော်မူမည်။ ဤကား တာက္ကဝါနှင့် သစ္စာ၏အကျိုးပင်။

(၁) **အောင်မြင်မှု၏ သော့ချက်၊**

အောင်မြင်မှု၏ သော့ချက်မှာ အခြားမဟုတ်၊ အလ္လာဟ်အရှင်မြတ်နှင့် တမန်တော်မြတ် (ဆွလ္လလ္လာဟုအလိုင်ဟိဝစလ္လမ်)၏အမိန့်နာခံမှုပင်၊ အလ္လာဟ်အရှင်မြတ်နှင့် တမန်တော်မြတ်၏အမိန့်နာခံပါက အောင်မြင်ရမည်ပင်။

إِنَّا عَرَضْنَا الْأَمَانَةَ عَلَى
السَّمٰوٰتِ وَالْأَرْضِ وَالْجِبَالِ
فَأَبَيْنَ أَنْ يَحْمِلْنَهَا وَأَشْفَقْنَ
مِنْهَا وَحَمَلَهَا الْإِنْسَانُ ۖ
إِنَّهُ كَانَ ظَلُومًا جَهُولًا ﴿٧٢﴾

၇၂။ ဧကန်စင်စစ် ငါအရှင်မြတ်သည် အပ်နှံသော ကြီးတာဝန်ကို မိုးကောင်းကင်များ ရှေ့ဝယ်လည်းကောင်း၊ ပထဝီမြေ၏ရှေ့ဝယ်လည်းကောင်း၊ တောင်များ၏ရှေ့ဝယ်လည်းကောင်း၊ ဖော်ပြတော်မူခဲ့ရာ ၎င်းတို့သည် ယင်းတာဝန်ကို ငြင်းဆန်ခဲ့ကြကုန်၏။ ထို့ပြင် ယင်းတာဝန်ကို ထမ်းဆောင်ရန် ကြောက်ရွံ့ စိုးရိမ်ခဲ့ကြကုန်၏။ သို့ရာတွင် လူသားမှာမူကား ယင်းတာဝန်ကို ထမ်းဆောင်ခဲ့၏။ ဧကန်အမှန် ထိုလူသားသည် လွန်စွာ ရက်စက်သူ၊ လွန်စွာ အသိတရားကင်းမဲ့သူပင် ဖြစ်ပေသည်။

لِيُعَذِّبَ اللَّهُ الْمُنٰفِقِينَ
وَالْمُنٰفِقٰتِ وَالْمُشْرِكِينَ
وَالْمُشْرِكٰتِ وَيَتُوبَ
اللَّهُ عَلَى الْمُؤْمِنِينَ وَالْمُؤْمِنٰتِ ۗ
وَكَانَ اللَّهُ غَفُورًا رَّحِيمًا ﴿٧٣﴾

၇၃။ နောက်ဆုံးတွင် အလ္လာဟ်အရှင်မြတ်သည် “မုနာဖစ်က်” အယောင်ဆောင်မုစ်လင်မ် ယောကျ်ား မိန်းမတို့အားလည်းကောင်း၊ “မုရှ်ရစ်က်’ တစုံတရာကို အလ္လာဟ်အရှင်မြတ်နှင့်တွဲဘက်ကိုးကွယ်သူ ယောကျ်ား မိန်းမတို့အားလည်းကောင်း၊ ပြစ်ဒဏ်ပေးတော်မူပေမည်။ ထို့မှတပါး အလ္လာဟ်အရှင်မြတ်သည် “မုအ်မင်န်” သက်ဝင်ယုံကြည်သူ ယောကျ်ား မိန်းမတို့ဘက်သို့ ကရုဏာတော်နှင့် ပြန်လှည့်တော်မူပေမည်။

စင်စစ်သော်ကား အလ္လာဟ်အရှင်မြတ်သည် အလွန်တရာ ခွင့်လွှတ်ချမ်းသာပေးတော်မူသော၊ အလွန်တရာ သနားညှာတာတော်မူသောအရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

## ရှီဗာကဏ္ဍ




ဤကဏ္ဍသည် ရှီဗာကဏ္ဍမည်၏။ မက္ကာမြို့တော်၌ ကျရောက်ခဲ့၏။
ဤကဏ္ဍတွင် အာယတ်တော် (၅၄)ပါး၊ ရကူအ်အပိုဒ်(၆)ပိုဒ် အသီးသီးပါရှိ၏။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ

မပြတ်မစဲ သနားကြင်နာ ညှာတာတော်မူသော၊
အနန္တကရုဏာတော်ရှင် ဖြစ်တော်မူသော
အလ္လာဟ်အရှင်မြတ်၏ နာမတော်ဖြင့် အစပြုပါ၏။

اَلْحَمْدُ لِلّٰهِ الَّذِىْ لَهٗ مَا فِى السَّمٰوٰتِ وَمَا فِى الْاَرْضِ وَلَهُ الْحَمْدُ فِى الْاٰخِرَةِ ۚ وَهُوَ الْحَكِيْمُ الْخَبِيْرُ ①

၁။ မိုးကောင်းကင်များ၌လည်းကောင်း၊ ပထဝီမြေ၌လည်းကောင်း၊ ရှိရှိသမျှသော (သက်ရှိသက်မဲ့)အရာဝတ္ထု အလုံးစုံတို့ကို ပိုင်ဆိုင်တော်မူသော အလ္လာဟ်အရှင်မြတ်သည်သာလျှင် ချီးမွမ်း ထောပနာခြင်း အပေါင်းတို့ကို ခံယူထိုက်တော်မူ၏။ ထိုနည်းတူစွာ တမလွန်ဘဝ၌လည်း ထိုအရှင်မြတ်သည်သာလျှင် ချီးမွန်ထောပနာခြင်း အလုံးစုံတို့ကို ခံယူထိုက်တော်မူ၏။ အမှန်စင်စစ် ထိုအရှင်မြတ်သည်ပင် ဆင်ခြင်တုံတရားနှင့်ပြည့်စုံတော်မူသောအရှင်၊ အကြွင်းမဲ့သိတော်မူသောအရှင် ဖြစ်တော်မူ၏။

يَعْلَمُ مَا يَلِجُ فِى الْاَرْضِ وَمَا يَخْرُجُ مِنْهَا وَمَا يَنْزِلُ مِنَ السَّمَآءِ وَمَا يَعْرُجُ فِيْهَا ۚ وَهُوَ الرَّحِيْمُ الْغَفُوْرُ ②

၂။ ထိုအရှင်မြတ်သည် ပထဝီမြေအတွင်းသို့ ဝင်သောအရာများကိုလည်းကောင်း၊ ယင်းပထဝီမြေအတွင်းမှ ထွက်သောအရာများကို လည်းကောင်း၊ မိုးကောင်းကင်မှ သက်ဆင်းသောအရာများကိုလည်းကောင်း၊ ယင်းမိုးကောင်းကင်သို့ တက်သွားသော အရာများကိုလည်းကောင်း၊ (အလုံးစုံတို့ကို) ကောင်းမွန်စွာ သိရှိတော်မူ၏။ [၁]

(၁) အလ္လာဟ်အရှင်မြတ်သည် "မြေ၌ဝင်သောအရာ" ဥပမာ– သက်ရှိသတ္တဝါ၊ ပိုးမွှား၊ မျိုးစေ့၊ မိုးရည်၊ သူသေအလောင်း .... စသည်တို့ကိုလည်း သိတော်မူသည်။ "မြေမှထွက်သော အရာ" ဥပမာ– ကောက်ပဲသီးနှံ၊ ဟင်းသီးဟင်းရွက်၊ သတ္တု စသည်တို့ကိုလည်း သိတော်မူသည်။ "မိုးကောင်းကင်မှ ကျသောအရာ" ဥပမာ➤➤

ငှင်းပြင် ထိုအရှင်မြတ်သည် အလွန်တရာ သနားကြင်နာတော်မူသောအရှင်၊ အလွန်တရာ ခွင့်လွှတ်ချမ်းသာပေးတော်မူသောအရှင် ဖြစ်တော်မူပေသတည်း၊[၁]

وَقَالَ الَّذِيْنَ كَفَرُوْا لَا تَأْتِيْنَا السَّاعَةُ ۗ قُلْ بَلٰى وَرَبِّيْ لَتَأْتِيَنَّكُمْ ۙ عٰلِمِ الْغَيْبِ ۚ لَا يَعْزُبُ عَنْهُ مِثْقَالُ ذَرَّةٍ فِي السَّمٰوٰتِ وَلَا فِي الْأَرْضِ وَلَآ أَصْغَرُ مِنْ ذٰلِكَ وَلَآ أَكْبَرُ إِلَّا فِيْ كِتٰبٍ مُّبِيْنٍ ۝٣

၃။ စင်စစ်သော်ကား ကာဖိရ်သွေဖည်ငြင်းပယ်သောသူတို့က "ရှင်ပြန်ထရမည့် အချိန်ကာလသည် ကျွန်ုပ်တို့ထံ ဆိုက်ရောက်လာမည်မဟုတ်" ဟု ဆိုကြကုန်၏။ (အို-နဗီတမန်တော်) အသင်သည် ပြောကြားပါလေ။ (အချင်းတို့၊) ငါ့အား မွေးမြူဖန်ဆင်းတော်မူသော၊ အကွယ်၌ရှိသည်တို့ကို သိမြင်တော်မူသော၊ အရှင်မြတ်၏ "ကစမ်"၊ ယင်းရှင်ပြန်ထမည့် အချိန်ကာလသည် အသင်တို့ထံ အမှန်ပင် ဆိုက်ရောက်လာမည်။ မိုးကောင်းကင်များ၌လည်းကောင်း၊ ပထဝီမြေ၌လည်းကောင်း၊ အဏုမြူခန့်မျှသောဝတ္ထုပစ္စည်းသည်ပင်လျှင် ထိုအရှင်မြတ်၏ အသိပညာမှ ကွယ်ပျောက်နေသည်ဟူ၍ မရှိပေ။ စင်စစ်သော်ကား ယင်းအဏုမြူထက်သေးငယ်သော အရာဝတ္ထုပင် ဖြစ်စေ၊ (ယင်းအဏုမြူထက်) ကြီးသော အရာဝတ္ထုပင် ဖြစ်စေ၊ ထင်ရှားစွာသော မှတ်တမ်းစာအုပ်တွင် (ရေးသားပြီး) ဖြစ်ပေသည်။ [၂]

➤➤ မိုးရည်၊ ဝဟီအာယတ်တော်၊ "တတ်က်ဒီရ်" စီမံခန့်ခွဲမှု ကောင်းကင်တမန် စသည်တို့ကိုလည်းသိတော်မူသည်။ "မိုးကောင်းကင်သို့ တက်သောအရာ" ဥပမာ- အသက်ဇီဝိန်၊ ဆုပန်ကြားမှု၊ အကျင့်အမူ၊ ကောင်းကင်တမန် စသည်တို့ကိုလည်း သိတော်မူသည်။ ဆိုလိုသည်ကား အလ္လာဟ်အရှင်မြတ်သည် သိမြင့်နှံ့စပ်သောဉာဏ်တော်ရှင် ဖြစ်တော်မူသည်။ မိုး၊မြေ၊ စကြာဝဠာအဝှန်း၌ ဖြစ်ပျက်သမျှကိစ္စအဝဝကို ကြွင်းမဲ့ဥဿုံ အလုံးစုံကို သိတော်မူသည်ဟူ၏။

(၁) အလ္လာဟ်အရှင်မြတ်သည် အလွန်သနားကြင်နာတော်မူသည်။ အလွန်လွှတ်ငြိမ်းချမ်းသာခွင့် ပေးတော်မူသည်။ ယနေ့လူ့လောကကြီး စည်ပင်သာယာဝပြောနေသည်မှာ ထိုအရှင်မြတ်၏ ကျေးဇူးတော်ကြောင့်ပင်ဖြစ်သည်။ အကယ်၍သာ အလ္လာဟ်အရှင်မြတ်သည် လူသားတို့အား ၎င်းတို့ပြုမူ ကျင့်ကြံနေသည်များကို တိကျပြတ်သားစွာ အရေးယူတော်မူပါလျှင်၊ ကမ္ဘာမြေမျက်နှာပြင်ပေါ်တွင် သတ္တဝါတစ်ဦးမျှပင် ကျန်ရှိနိုင်မည်မဟုတ်ပေ။

[ကြည့်- ကုရ်အာန် (၃၅း၄၅)]

لِّيَجْزِيَ الَّذِينَ اٰمَنُوا وَعَمِلُوا الصّٰلِحٰتِ ۚ اُولٰٓئِكَ لَهُمْ مَّغْفِرَةٌ وَّرِزْقٌ كَرِيمٌ ④

၄။ (ရှင်ပြန်ထမည့်အချိန်ကာလ ဆိုက်ရောက်စေခြင်းမှာ) ထိုအရှင်မြတ်သည် “အီမာန်” သက်ဝင်ယုံကြည်ပြီးနောက် ကောင်းမြတ်သော အကျင့်သီလများကို ကျင့်မှုဆောက်တည်ကြသောသူတို့အား အစားပေးတော်မူရန်ပင်ဖြစ်၏။ ထိုကဲ့သို့သော သူတို့အဖို့မှာကား လွတ်ငြိမ်းချမ်းသာခွင့်သည်လည်းကောင်း၊ မြင့်မြတ်စွာသော စားနပ်ရိက္ခာသည်လည်းကောင်း၊ ရှိပေသည်။

وَالَّذِينَ سَعَوْ فِيٓ اٰيٰتِنَا مُعٰجِزِينَ اُولٰٓئِكَ لَهُمْ عَذَابٌ مِّنْ رِّجْزٍ اَلِيمٌ ⑤

၅။ သို့ရာတွင် ငါအရှင်မြတ်၏ အာယတ်တော်များကို ပျက်ပြားအောင် ကြိုးပမ်းဆောင်ရွက်လျက်ရှိကြသူတို့မှာမူကား ၎င်းတို့၌ ပြင်းပြနာကျင်ဖွယ်ဖြစ်သော ဘေးအန္တရာယ်တည်းဟူသော ပြစ်ဒဏ်သည် ရှိပေမည်။

---

② **ကီယာမတ်’ မုချဖြစ်မည်၊**

လူ့လောကတွင် အလ္လာဟ်အရှင်မြတ်အား ယုံကြည်သူများလည်းရှိကြ၏။ မယုံကြည်သူများလည်းရှိကြ၏။ ထို့အတူကောင်းမြတ်သော အကျင့်သီလများကို ဖြည့်ကျင့်ဆည်းပူး သူများလည်းရှိကြ၏။ ဒုစရိုက်မှုကို ကျူးလွန်သူများလည်းရှိကြ၏။ အလ္လာဟ်အရှင်မြတ်သည် ကောင်းသူများအား ကောင်းကျိုးပေးတော်မူသည်။ ဆိုးသူများကို ဆိုးကျိုးပေးတော်မူမည်။ သို့မှသာ မျှတရာကျမည်။ သို့မဟုတ်ပါမူ ဤစကြာဝဠာကြီးသည် အဓိပ္ပါယ်မရှိ၊ ကျိုးကြောင်းမရှိ၊ အချည်းနှီးဖြစ်သွားချိမ့်မည်။

ကီယာမတ်ကို ငြင်းပယ်သော ကာဖိရ်များက

(၁) ကီယာမတ်ဖြစ်မည်ဆိုပါက မည်သည့်နေ့ရက်၊ အချိန်တွင် ဖြစ်မည်နည်း။

(၂) သေကြေဆွေးမြည့် ပျက်စီး၍ အစိတ်စိတ်အမြွှာမြွှာ ပျံ့လွင့် ပျောက်ပျက်နေသော သူသေများကို ပြန်လည် ပေါင်းစပ်၍ ရှင်ပြန်ထစေခြင်းမှာ အသို့လျှင် ဖြစ်နိုင်အံ့နည်း။

(၃) ကောင်းကျိုးဆိုးကျိုးပေးရန် အသို့လျှင်ဖြစ်နိုင်အံ့နည်း စသည်ဖြင့်ပြောဆိုကြ၏။

ဤသို့ပြောဆိုကြခြင်းမှာ ကျိုးကြောင်းဆင်ခြင်တုံ တရားမရှိမှု၊ အလ္လာဟ်အရှင်မြတ်၏ ဂုဏ်တော်များကို မသိမှု၏အကျိုးပင်။

ဤစကြာဝဠာတွင် ဖြစ်ပျက်နေသည်များကို တွေးဆဆင်ခြင် မြော်မြင်ကြည့်ရှုပါက အရာရာ၌ ကျိုးကြောင်းတရား နှစ်ပါးဆက်စပ်နေသည်ကို တွေ့ရှိရသည်သာဖြစ်သည်။ ဤပစ္စက္ခသည် အကြောင်းဖြစ်သည်၊ နောင်တမလွန်ဘဝသည် အကျိုးဖြစ်သည်။

وَيَرَى الَّذِينَ أُوتُوا الْعِلْمَ
الَّذِي أُنْزِلَ إِلَيْكَ مِنْ
رَبِّكَ هُوَ الْحَقَّ وَيَهْدِي
إِلَىٰ صِرَاطِ الْعَزِيزِ الْحَمِيدِ ٦

၆။ စင်စစ်မှာကား အသိပညာကို ချီးမြှင့်ပေးသနားတော်မူခြင်း ခံခဲ့ကြရသော သူတို့သည် အသင့်ထံ ချပေးခြင်းခံခဲ့ရသော (ကုရ်အာန်ကျမ်းတော်)သည် မှန်ကန်သည်ဟူ၍ လည်းကောင်း၊ ထို(ကုရ်အာန်ကျမ်းတော်)သည် အလွန်တရာ နိုင်နင်းလွှမ်းမိုးတော်မူသော၊ ချီးမွမ်းထောပနာခြင်းအပေါင်းကို အလွန်တရာ ခံယူထိုက်တော်မူသော၊ အရှင်မြတ်၏လမ်းကို ညွှန်ပြသည်ဟူ၍လည်းကောင်း၊ (သိ)မြင်ကြကုန်သတည်း။

وَقَالَ الَّذِينَ كَفَرُوا هَلْ
نَدُلُّكُمْ عَلَىٰ رَجُلٍ يُنَبِّئُكُمْ
إِذَا مُزِّقْتُمْ كُلَّ مُمَزَّقٍ
إِنَّكُمْ لَفِي خَلْقٍ
جَدِيدٍ ٧

၇။ ထိုမှတပါး "ကာဖိရ်"သွေဖည်ငြင်းပယ်သော သူတို့က (အချင်းချင်း) ပြောဆိုကြကုန်၏။ ကျွန်ုပ်တို့သည် အသင်တို့အား အကြင်ယောကျ်ားတစ်ယောက်ကို ညွှန်ပြကြရမည်လော။ ထိုသူသည် အသင်တို့အား "အသင်တို့သည် လုံးဝမွမွကြေအောင် ချေပစ်ခြင်းခံခဲ့ကြရလေသောအခါ ဧကန်မလွဲ အသင်တို့သည် အသစ်ပြန်၍ ဖန်ဆင်းခြင်းကို ခံကြရမည်" ဟု သတင်းပေး၏။

أَفْتَرَىٰ عَلَى اللَّهِ كَذِبًا أَمْ بِهِ
جِنَّةٌ بَلِ الَّذِينَ لَا يُؤْمِنُونَ
بِالْآخِرَةِ فِي الْعَذَابِ
وَالضَّلَالِ الْبَعِيدِ ٨

၈။ ထိုသူသည် အလ္လာဟ်အရှင်မြတ်အပေါ်၌ မုသားကို ကြံဖန်စွပ်စွဲခဲ့လေသလော၊ သို့တည်းမဟုတ် ထိုသူ၌ ရူးသွပ်ခြင်းဝေဒနာ ရှိနေသလော။ ထိုသို့ အလျှင်းမဟုတ်။ စင်စစ်မှာကား "အာခိရတ်" တမလွန်ဘဝကို မယုံကြည်သောသူတို့သည်သာလျှင် ပြစ်ဒဏ်၌လည်းကောင်း၊ ဝေးလံသော လမ်းမှားမှု၌လည်းကောင်း၊ ရှိနေကြကုန်၏။

أَفَلَمْ يَرَوْا إِلَىٰ مَا بَيْنَ أَيْدِيهِمْ
وَمَا خَلْفَهُمْ مِنَ السَّمَاءِ

၉။ ထိုသူတို့သည် မိမိတို့ ရှေ့နောက် (ထက်အောက်)ရှိနေသော မိုးကောင်းကင်ကိုလည်းကောင်း၊ ပထဝီမြေကိုလည်းကောင်း၊ မမြင်ကြလေသလော။

وَالْأَرْضِ ۚ إِن نَّشَأْ نَخْسِفْ بِهِمُ الْأَرْضَ أَوْ نُسْقِطْ عَلَيْهِمْ كِسَفًا مِّنَ السَّمَاءِ ۚ إِنَّ فِي ذَٰلِكَ لَآيَةً لِّكُلِّ عَبْدٍ مُّنِيبٍ ⑨

အကယ်၍သာ ငါအရှင်မြတ်သည် အလိုရှိတော်မူပါလျှင် ၎င်းတို့အား မြေမျိုစေတော်မူပေမည်။ သို့တည်းမဟုတ် ငါအရှင်မြတ်သည် ၎င်းတို့အပေါ်၌ မိုးကောင်းကင်၏ အပိုင်းအစများကို ကျရောက်စေတော်မူပေမည်။ ဧကန်စင်စစ် ဤသည်၌ (ငါအရှင်မြတ်ဘက်သို့)ပြန်လှည့်ကြသော ကျွန်တိုင်းအဖို့ (လုံလောက်သော) သက်သေသာဓကရှိပေသတည်း။ ¹

وَلَقَدْ آتَيْنَا دَاوُودَ مِنَّا فَضْلًا ۖ يَا جِبَالُ أَوِّبِي مَعَهُ وَالطَّيْرَ ۖ وَأَلَنَّا لَهُ الْحَدِيدَ ⑩

၁၀။ မလွဲဧကန် ငါအရှင်မြတ်သည် (နဗီတမန်တော်) "ဒါဝူဒ်" အား မိမိအထံတော်မှ ကျေးဇူးတော်ကို ချီးမြှင့်ပေးသနားတော်မူခဲ့၏။

(ထို့ပြင် ငါအရှင်မြတ်သည် တောင်များကို) "အို-တောင်တို့ အသင်တို့သည် "ဒါဝူဒ်" နှင့်အတူ (ငါအရှင်မြတ်) စင်ကြယ် သန့်ရှင်းတော်မူကြောင်း မြွက်ဆိုကြကုန်လော့" (ဟု မိန့်ကြားတော်မူခဲ့၏)။ ထိုနည်းတူစွာ ငှက်တိရစ္ဆာန်များကိုလည်း (ငါအရှင်မြတ်သည် ဤအတိုင်းပင် မိန့်ကြားတော်မူခဲ့၏။) ထို့မှတပါး ငါအရှင်မြတ်သည် "ဒါဝူဒ်" အဖို့ သံကို ပျော့ပျောင်းစေတော်မူခဲ့၏။

---

① အသိဉာဏ်နှင့် မျှတမှုကို အသုံးပြု၍ အလ္လာဟ်အရှင်မြတ် ဘက်တော်သို့ပြန်လှည့်သော၊ ယိမ်းညွတ်သောသူတိုင်းအဖို့ ဤသည့်မိုး၊မြေ၌ ကြီးမားလှသော သက်သေသာဓကရှိပေသည်။ ယင်းသို့သော ပုဂ္ဂိုလ်မွန်တို့သည် မိုးမြေ၏ အနေအထား၊ စနစ်တကျသွားလာ လှုပ်ရှားမှုများကိုကြည့်ပြီး၊ တရက် ဤစကြာဝဠာ၏ အကျိုးဆက်သည် မုချပေါ်ထွက်လာမည်။ ထိုသည့်အကျိုးဆက်ကာ အခြားမဟုတ်၊ 'အာခိရတ်' နောင်တမလွန်ဘဝပင်ဖြစ်သည်ကို သိနားလည်ကြပေသည်၊ ယုံကြည်ကြပေသည်။

သို့ယုံကြည်ကြသည်နှင့်အမျှ အခါခပ်သိမ်း အလ္လာဟ်အရှင်မြတ် ဘက်တော်သို့ ပြန်လှည့်နေကြပေသည်။ မိုး၊မြေမှ မိမိတို့ရရှိခံစားနေကြသော ကျေးဇူးတော်များအတွက် ထိုအရှင်မြတ်အား ကျေးဇူးတင်လျက်ရှိကြလေသည်။ ရှေ့တွင် ယင်းသို့သော ပုဂ္ဂိုလ်မွန်တို့အနက် ပုဂ္ဂိုလ်မွန်နှစ်ပါး အကြောင်းကို ထုတ်ဖော်မိန့်ဆိုထားတော်မူသည်။

أَنِ اعْمَلْ سَابِغَاتٍ وَقَدِّرْ فِي السَّرْدِ ۖ وَاعْمَلُوا صَالِحًا ۖ إِنِّي بِمَا تَعْمَلُونَ بَصِيرٌ ﴿١١﴾

၁၁။ (ထိုမှတပါး ငါအရှင်မြတ်သည် "ဒါဝူဒ်" အား မိန့်ကြားတော်မူခဲ့၏။) "အသင်သည် ပြည့်စုံသော သံချပ်အင်္ကျီရှည်များကို ပြုလုပ်ပါလေ။ ၎င်းပြင် အသင်သည် (ကွင်းဆက်များကို) ဆက်ရာတွင် သင့်မြတ်အောင် ချိန်ဆ ခန့်မှန်း၍ ပြုလုပ်ပါလေ။ ထို့ပြင် (အို–"ဒါဝူဒ်"၏ သားမြေးတို့) အသင်တို့သည် (ထို"ဒါဝူဒ်"နှင့်အတူ) ကောင်းမြတ်သောအကျင့်သီလကို ကျင့်မူဆောက်တည်ကြလေကုန်၊ ဧကန်မလွဲ ငါအရှင်မြတ်သည် အသင်တို့ ကျင့်မူပြုလုပ်သမျှတို့ကို အကြွင်းမဲ့သိမြင်တော်မူသော အရှင်မြတ် ဖြစ်တော်မူပေသတည်း"။

وَلِسُلَيْمَانَ الرِّيحَ غُدُوُّهَا شَهْرٌ وَرَوَاحُهَا شَهْرٌ ۖ وَأَسَلْنَا لَهُ عَيْنَ الْقِطْرِ ۖ وَمِنَ الْجِنِّ مَنْ يَعْمَلُ بَيْنَ يَدَيْهِ بِإِذْنِ رَبِّهِ ۖ وَمَنْ يَزِغْ مِنْهُمْ عَنْ أَمْرِنَا نُذِقْهُ مِنْ عَذَابِ السَّعِيرِ ﴿١٢﴾

၁၂။ ထိုနည်းတူစွာ (ငါအရှင်မြတ်သည်) လေကို "စုလိုင်မာန်" ၏(အမိန့်ကို နာခံစေတော်မူခဲ့၏။) ယင်းလေ၏ နံနက်လမ်းခရီးမှာ တလခရီးလမ်းဖြစ်၍ ညနေလမ်းခရီးမှာလည်း တလခရီးလမ်းပင်ဖြစ်ခဲ့၏။ ထို့ပြင် ငါအရှင်မြတ်သည် ထိုစုလိုင်မာန်၏အကျိုးငှာ ကြေးနီချောင်းများကို စီးဆင်းစေတော်မူခဲ့၏။

ထိုမှတပါး ဂျင်န်တို့အနက် အချို့မှာ ထိုစုလိုင်မာန်၏ရှေ့မှောက်ဝယ် ထိုစုလိုင်မာန်၏အရှင်မြတ်အမိန့်တော်နှင့် (၎င်းခိုင်းစေသမျှတို့ကို) လုပ်ကိုင်ဆောင်ရွက်ပေးလျက်သာ ရှိနေခဲ့ကြ၏။ စင်စစ်သော်ကား ထိုဂျင်န်များအနက် မည်သူမဆို ငါအရှင်မြတ်၏အမိန့်တော်မှ သွေဖည် တိမ်းယိမ်းသည်ရှိသော် ငါအရှင်မြတ်သည် ၎င်းအား အလျှံပြောင်ပြောင် တောက်လောင်လျက်ရှိသော မီးတောက်မီးလျှံ၏ အရသာကို မြည်းစမ်းစေတော်မူမည်။

يَعْمَلُوْنَ لَهٗ مَا يَشَآءُ مِنْ مَّحَارِيْبَ وَتَمَاثِيْلَ وَجِفَانٍ كَالْجَوَابِ وَقُدُوْرٍ رّٰسِيٰتٍ ۭ اِعْمَلُوْٓا اٰلَ دَاوٗدَ شُكْرًا ۭ وَقَلِيْلٌ مِّنْ عِبَادِيَ الشَّكُوْرُ ⑬

၁၃။ ထိုဂျင်န်တို့သည် ထိုစုလိုင်မာန်၏ အကျိုးငှာ ၎င်းအလိုရှိသော ကြီးကျယ်သောအဆောက်အအုံများကိုလည်းကောင်း၊ (ကျောက်၊ ကြေးနီ၊ ဖန် စသည်များဖြင့် ပြီးသော) ရုပ်တုများကိုလည်းကောင်း၊ ရေကန်ကြီးများ တမျှရှိ ဇလုံ၊ အင်တုံများကိုလည်းကောင်း၊ မပြောင်း မရွှေ့နိုင်သော အိုးကြီးများကိုလည်းကောင်း၊ ပြုလုပ်ပေးကြကုန်၏။

(ထို့ပြင် ငါအရှင်မြတ်သည် ဤသို့ မိန့်ကြားတော်မူခဲ့၏) အို-"ဒါဝူဒ်" ၏သား၊မြေး၊ အိမ်သူအိမ်သားတို့၊ အသင်တို့သည် ကျေးဇူးသိတတ်သော အနေနှင့် ကောင်းမှုပြုကြလေကုန်။ စင်စစ်သော်ကား ငါအရှင်မြတ်၏ ကျွန်တို့အနက် ကျေးဇူးသိတတ်ကြသောသူတို့မှာ နည်းပါးလှပေသတည်း။

فَلَمَّا قَضَيْنَا عَلَيْهِ الْمَوْتَ مَا دَلَّهُمْ عَلٰى مَوْتِهٖٓ اِلَّا دَآبَّةُ الْاَرْضِ تَاْكُلُ مِنْسَاَتَهٗ ۚ فَلَمَّا خَرَّ تَبَيَّنَتِ الْجِنُّ اَنْ لَّوْ كَانُوْا يَعْلَمُوْنَ الْغَيْبَ مَا لَبِثُوْا فِي الْعَذَابِ الْمُهِيْنِ ⑭

၁၄။ ထို့နောက် ငါအရှင်မြတ်သည် ထိုစုလိုင်မာန်၏ အပေါ်၌ "မရဏ" သေခြင်းတရားကို ပြဋ္ဌာန်းတော်မူခဲ့လေသောအခါ ၎င်း၏လှင်ကန်တောင်ဝှေးကို စားလျက်ရှိသည့် မြေကြီး၌နေသောပိုးကောင်မှတပါး ၎င်း ကွယ်လွန်သေဆုံးပြီးဖြစ်ကြောင်းကို ထိုဂျင်န်များအား မည်သူကမျှ သိစေခဲ့သည်မဟုတ်ပေ။ ထို့နောက် ထိုစုလိုင်မာန်သည် လဲ၍ ကျသွားခဲ့သောအခါ ဂျင်န်များသည် "ကေန်စင်စစ် အကယ်၍ မိမိတို့မှာ အကွယ်၌ရှိသည်များကို သိရှိကြလျှင် ဤသည့် ဂုဏ်ရည်သေးသိမ်စေသောဒုက္ခ၌ ဆက်လက်၍ နေခဲ့ကြမည် မဟုတ်ကြောင်း သိသွားခဲ့ကြကုန်သတည်း။[၁]

---

(၁) တမန်တော် စုလိုင်မာန်သည် "ဗိုင်တွလ်မုကဒ္ဒတ်စ်" ဗလီကျောင်းတော်ကို မွမ်းမံတည်ဆောက်ရာတွင် 'ဂျင်န်' သတ္တဝါများကို လုပ်သားအဖြစ် စေခိုင်းနေတော်မူခဲ့၏။ ထိုသည့်အချိန်အတွင်းမှာပင် မိမိသေဆုံးရန်အချိန် ကျရောက်လာပြီကိုသိသောအခါ တမန်တော်စုလိုင်မာန်သည် လုပ်သားဂျင်န်များအား တည်ဆောက်ရမည့် ➢➢

لَقَدْ كَانَ لِسَبَإٍ فِىْ مَسْكَنِهِمْ اٰيَةٌ ۚ جَنَّتٰنِ عَنْ يَّمِيْنٍ وَّشِمَالٍ ۗ كُلُوْا مِنْ رِّزْقِ رَبِّكُمْ وَاشْكُرُوْا لَهٗ ۗ بَلْدَةٌ طَيِّبَةٌ وَّرَبٌّ غَفُوْرٌ ﴿١٥﴾

၁၅။ ဧကန်မုချ "စဗာ" မျိုးနွယ်ဝင်တို့အဖို့ ၎င်းတို့၏ နေထိုင်ရာဒေသ၌ပင် သက်သေလက္ခဏာသည် ရှိခဲ့၏။ ထိုမျိုးနွယ်ဝင်တို့နေထိုင်ရာ မြို့ရွာများ၏ လက်ယာဘက်၌ လည်းကောင်း၊ လက်ဝဲဘက်၌ လည်းကောင်း၊ ဥယျာဉ်နှစ်ခုရှိခဲ့၏။

(၎င်းတို့မှာ မိမိတို့၏ နဗီတမန်တော်များမှ တဆင့် ဤသို့မိန့်ကြားခြင်းကို ခံခဲ့ကြကုန်၏။) "အသင်တို့သည် မိမိတို့၏ အရှင်မြတ်က ချီးမြှင့်ပေးသနားတော်မူသော စားနပ်ရိက္ခာကို စားသုံးကြလေကုန်။ ထိုမှတပါး အသင်တို့သည် ထိုအရှင်မြတ်အား ကျေးဇူးတင်ရှိကြလေကုန်။ (အသင်တို့၏ မြို့ရွာမှာ) ကောင်းမွန် သန့်ပြန့်သောမြို့ရွာဖြစ်၍ (အသင်တို့၏ အရှင်မြတ်မှာလည်း) လွန်စွာ ခွင့်လွှတ်ချမ်းသာပေးတော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူ၏။

➤➤ ဗလီကျောင်းတော်၏ပုံစံကို ပေးပြီး မှန်ဆောင်တွင်ဝင်၍ မိမိ၏ ယခင်အလေ့အထအတိုင်း အလ္လာဟ် အရှင်မြတ်အား တကိုယ်တကာယတည်း ဝတ်ပြုနေလေတော့၏။ ထိုအချိန်တွင် သေမင်းတမန် ရောက်ရှိလာပြီး တမန်တော်စုလိုင်မာန်၏ အသက်ဝိညာဉ်ကို နှုတ်သိမ်းလိုက်၏။ တမန်တော်စုလိုင်မာန်၏ ရုပ်ကလာပ်သည် တောင်ဝှေးကိုမှီကာ အနေမပျက် မတ်တပ်ရပ်လျက်ပင်ရှိနေခဲ့၏။ တမန်တော်စုလိုင်မာန် ကွယ်လွန်သေဆုံးသွားသည်ကို မည်သူမျှ မရိပ်စားမိခဲ့ပေ။ သို့ဖြင့်တမန်တော်စုလိုင်မာန် ကွယ်လွန်သေဆုံးသွားပြီး နောက်တွင်လည်း ဂျင်န်သတ္တဝါများသည် ပင်ပန်းကြီးစွာဖြင့် အလုပ်လုပ်မြဲ လုပ်လျက်ပင်ရှိနေခဲ့ကြ၏။ နောက်ဆုံးတွင် ဗလီကျောင်းတော်သည် ပြီးစီးသွားခဲ့၏။ ထိုအခါ တမန်တော်စုလိုင်မာန် မှီလျက်နေခဲ့သော တောင်ဝှေးသည် ပိုးစား၍ လဲကျသွားရာ တမန်တော်စုလိုင်မာန်၏ ရုပ်ကလပ်သည်လည်း လဲကျသွားခဲ့၏။ ထိုအခါကျမှ တမန်တော်စုလိုင်မာန် ကွယ်လွန်သေဆုံးသည်မှာ အတော်ပင်ကြာနေပြီဖြစ်ကြောင်း အားလုံးသိသွားခဲ့ကြလေသည်။

ဤသည်ကို ထောက်ရှုခြင်းအားဖြင့် ဂျင်န်သတ္တဝါများသည် "ဃိုက်ဗ်" မျက်ကွယ်၌ရှိသည်တို့ကို မသိကြောင်း၊ သိပါက တမန်တော်စုလိုင်မာန် ကွယ်လွန်သေဆုံးပြီးနောက်ပိုင်းတွင် ပင်ပန်းကြီးစွာဖြင့် အချိန်ကြာမြင့်စွာ အလုပ်လုပ်နေကြမည် မဟုတ်ကြောင်း ကောင်းစွာသိသာပေသည်။ ထို့ပြင်တဝ အလ္လာဟ်အရှင်မြတ်သည် မိမိဖြစ်စေတော်မူလိုသော အရာကို အံ့ဖွယ်သရဲ ပြီးစီးစေတော်မူကြောင်းကိုလည်း ကောင်းစွာသိရှိနိုင်ပေသည်။

فَأَعْرَضُوا فَأَرْسَلْنَا عَلَيْهِمْ سَيْلَ الْعَرِمِ وَبَدَّلْنَاهُم بِجَنَّتَيْهِمْ جَنَّتَيْنِ ذَوَاتَيْ أُكُلٍ خَمْطٍ وَأَثْلٍ وَشَيْءٍ مِّن سِدْرٍ قَلِيلٍ ﴿١٦﴾

၁၆။ သို့ရာတွင် ၎င်းတို့သည် (အမိန့်တော်ကို လိုက်နာခြင်းမရှိကြဘဲ) မျက်နှာလွှဲခဲ့ကြပေရာ ငါအရှင်မြတ်သည် ၎င်းတို့အပေါ်၌ "အရင်မ်" ရေကာတာမှ ပြင်းစွာစီးဆင်းသော ရေကို လွှတ်ပေးတော်မူခဲ့၏။ ထို့ပြင် ငါအရှင်မြတ်သည် ၎င်းတို့အား ၎င်းတို့၏ဥယျာဉ်နှစ်ခု၏အစား အခြားဥယျာဉ်နှစ်ခုကို လဲလှယ်၍ ပေးတော်မူခဲ့၏။ ထိုဥယျာဉ်နှစ်ခုမှာ ဖန်သော၊ ခါးသော၊ အရသာမကောင်းသော၊ သစ်သီးဝလံများ၊ ထင်းရှူးပင်များနှင့် အနည်းငယ်မျှသောဆီးပင်များရှိသော ဥယျာဉ်နှစ်ခုပင် ဖြစ်ခဲ့ကြ၏။

ذَٰلِكَ جَزَيْنَاهُم بِمَا كَفَرُوا ۖ وَهَلْ نُجَازِي إِلَّا الْكَفُورَ ﴿١٧﴾

၁၇။ ဤကား ငါအရှင်မြတ်သည် ၎င်းတို့အား ၎င်းတို့၏ ကျေးဇူးကန်းမှုကြောင့် ပေးတော်မူခဲ့သော အပြစ်ဒဏ်ပင်ဖြစ်၏။ စင်စစ်သော်ကား ငါအရှင်မြတ်သည် အလွန်ကျေးဇူးကန်းသော သူတို့အားသာလျှင် (ယင်းကဲ့သို့သော)အပြစ်ပေးလေ့ရှိတော်မူပေသတည်း။

وَجَعَلْنَا بَيْنَهُمْ وَبَيْنَ الْقُرَى الَّتِي بَارَكْنَا فِيهَا قُرًى ظَاهِرَةً وَقَدَّرْنَا فِيهَا السَّيْرَ ۖ سِيرُوا فِيهَا لَيَالِيَ وَأَيَّامًا آمِنِينَ ﴿١٨﴾

၁၈။ ထိုမှတပါး ငါအရှင်မြတ်သည် ထိုသူတို့နှင့် ငါအရှင်မြတ် သုခချမ်းသာနှင့် ပြည့်စုံစေတော်မူခဲ့သော မြို့ရွာများ၏အကြား၌ မြင်လွယ်သော မြို့ရွာများကို စည်ကားစေတော်မူခဲ့၏။ ၎င်းပြင် ငါအရှင်မြတ်သည် ထိုမြို့ရွာများ၌ ခရီးထောက်များကိုလည်း သတ်မှတ်၍ ပေးတော်မူခဲ့၏။

(၎င်းပြင် ငါအရှင်မြတ်သည် ဤသို့ မိန့်ကြားတော်မူခဲ့၏။) အသင်တို့သည် ယင်းမြို့ရွာများတွင် ဘေးအန္တရာယ် ကင်းငြိမ်းစွာ နေ့ရော ညဉ့်ပါ ခရီးသွားလာကြလေကုန်။

فَقَالُوا رَبَّنَا بَاعِدْ بَيْنَ أَسْفَارِنَا وَظَلَمُوٓا أَنفُسَهُمْ فَجَعَلْنَٰهُمْ أَحَادِيثَ وَمَزَّقْنَٰهُمْ كُلَّ مُمَزَّقٍ ۚ إِنَّ فِى ذَٰلِكَ لَءَايَٰتٍ لِّكُلِّ صَبَّارٍ شَكُورٍ ﴿١٩﴾

၁၉။ ထိုအခါ ၎င်းတို့က “အို–ကျွန်တော်မျိုးတို့အား မွေးမြူဖန်ဆင်းတော်မူသောအရှင်၊ အရှင်မြတ်သည် ကျွန်တော်မျိုးတို့၏ ခရီးလမ်းများကို ကွာဝေးစေတော်မူပါ” ဟု လျှောက်ထားကြကုန်၏။ ထို့ပြင် ၎င်းတို့သည် မိမိတို့ကိုယ်ကိုပင် နှိပ်စက်ကလူ ပြုခဲ့ကြပေရာ ငါအရှင်မြတ်သည် ၎င်းတို့(၏ အကြောင်းအတ္ထုပ္ပတ္တိ)ကို ယုံတမ်းစကားများပြုလုပ်တော်မူခဲ့၏။ ထို့ပြင် ငါအရှင်မြတ်သည် ၎င်းတို့အား လုံး၀ အစိတ်စိတ် အမွှာမွှာ ကစဉ့်ကလျား ဖြစ်စေတော်မူခဲ့၏။ ဧကန်မလွဲ ဤသည့် (ဖြစ်ရပ်)၌ လွန်စွာ ကျေးဇူးသိတတ်သော၊ သည်းခံခြင်းတရား ထားရှိသူတိုင်းအဖို့ သက်သေလက္ခဏာများသည် အမှန်ပင် ရှိကုန်သတည်း။

وَلَقَدْ صَدَّقَ عَلَيْهِمْ إِبْلِيسُ ظَنَّهُۥ فَٱتَّبَعُوهُ إِلَّا فَرِيقًا مِّنَ ٱلْمُؤْمِنِينَ ﴿٢٠﴾

၂၀။ စင်စစ်ဧကန် “အီဗ်လီစ်” သည် ၎င်းတို့ (အာဒမ်၏သားသမီးများ)နှင့်ပတ်သက်သော မိမိ၏ ထင်မြင်ယူဆချက်ကို မှန်ကန်ကြောင်း တွေ့ရှိခဲ့၏။ အကြောင်းမူကား “မုအ်မင်န်” သက်ဝင်ယုံကြည်သူများဖြစ်ကြသောလူစုမှအပ ၎င်းတို့မှာ ထို “အီဗ်လီစ်” ၏နောက်သို့ လိုက်ခဲ့ကြသောကြောင့်ပင်။

وَمَا كَانَ لَهُۥ عَلَيْهِم مِّن سُلْطَٰنٍ إِلَّا لِنَعْلَمَ مَن يُؤْمِنُ بِٱلْءَاخِرَةِ مِمَّنْ هُوَ مِنْهَا فِى شَكٍّ ۗ

၂၁။ စင်စစ်သော်ကား ထို “အီဗ်လီစ်” သည် ၎င်းတို့ အပေါ်၌ လွှမ်းမိုးနိုင်ခဲ့ခြင်းမှာ ငါအရှင်မြတ်သည် “အာခိရတ်” တမလွန်ဘ၀ကို ယုံကြည်သော သူတို့အား ယင်း“အာခိရတ်” တမလွန်ဘ၀နှင့် စပ်လျဉ်း၍ ဒွိဟသံသယ၌ ရှိနေသောသူတို့နှင့် ခွဲခြား၍ သိတော်မူရန်သာလျှင်ဖြစ်ခဲ့၏။ [၁]

(၁) အစ်ဗ်လီစ်သည် လူသားတို့နှင့်ပတ်သက်၍ ပထမနေ့ကပင် မိမိသည် လူသားတို့အား အစွမ်းရှိသမျှ သွေးဆောင်ဖြားယောင်း လွဲမှားစေမည့်အကြောင်းပြောကြားခဲ့၏။[ကြည့်–ကုရ်အာန်(၇း၁၁–၁၈၊၁၇း၆၁–၆၅)]➢➢

وَرَبُّكَ عَلٰى كُلِّ شَیْءٍ حَفِیْظٌ ﴿٢١﴾

စင်စစ်သော်ကား အသင့်အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်သည် အရာခပ်သိမ်းတို့အပေါ်၌ ထိန်းသိမ်း စောင့်ရှောက်တော်မူသောအရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

قُلِ ادْعُوا الَّذِیْنَ زَعَمْتُمْ مِّنْ دُوْنِ اللّٰهِ ۚ لَا یَمْلِكُوْنَ مِثْقَالَ ذَرَّةٍ فِی السَّمٰوٰتِ وَلَا فِی الْاَرْضِ وَمَا لَهُمْ فِیْهِمَا مِنْ شِرْكٍ وَّمَا لَهٗ مِنْهُمْ مِّنْ ظَهِیْرٍ ﴿٢٢﴾

၂၂။ (အို-နဗီတမန်တော်) အသင်သည် ပြောကြားပါလေ။ (အချင်းတို့) အသင်တို့သည် အလ္လာဟ်အရှင်မြတ်အပြင် (ကိုးကွယ်ရာ ဘုရားများ ဖြစ်ကြသည်ဟု) မိမိတို့ ထင်မှတ် ကိုးကွယ်ခဲ့ကြသောသူတို့အား ဟစ်ခေါ်ကြလေကုန်။ ထိုသူတို့သည် မိုးကောင်းကင်များ၌လည်းကောင်း၊ ပထဝီမြေ၌လည်းကောင်း၊ နှမ်းစေ့ခန့်မျှပင် ပိုင်ဆိုင်ကြသည် မဟုတ်ပေ။ ထိုမှတပါး ယင်းမိုးကောင်းကင်များနှင့် ပထဝီမြေနှစ်ခု၌ ၎င်းတို့၏ ဖက်စပ်မှုဟူ၍လည်း လုံးဝ မရှိပေ။ ထိုနည်းတူစွာ ၎င်းတို့အနက် ထိုအရှင်မြတ်အား ယိုင်းပင်းကူညီသူဟူ၍လည်း တစ်ဦးတစ်ယောက်မျှပင် မရှိချေ။

---

➤➤ သို့ပြောကြားခဲ့သည့်အတိုင်း အစ်ဗ်လီစ်သည် လူသားတို့အနက်၊ အလ္လာဟ်အရှင်မြတ်အား အမှန်တကယ်ယုံကြည်ကြသော မုအ်မင်န်များမှတစ်ပါး အခြားများစွာသောလူသားတို့အား သွေးဆောင်ဖြားယောင်း၍ လွဲမှားစေနိုင်ခဲ့လေသည်။ ဤကိစ္စတွင် အစ်ဗ်လီစ်၏ တွေးထင်ချက်မှာ မှန်ကန်လျက်ရှိနေချေပြီ။

အစ်ဗ်လီစ်သည် လူသားတို့အား အတင်းအဓမ္မနည်းဖြင့် လွဲမှားစေနိုင်ခဲ့သည်မဟုတ်၊ သို့လွဲမှားစေနိုင်ရန် ၎င်း၌ တစ်စုံတစ်ရာ စွမ်းရည်သတ္တိလည်းမရှိ။ အမှန်မှာ အစ်ဗ်လီစ်သည် လူသားတို့အား သွေးဆောင်ဖြားယောင်း ခြင်းသာဖြစ်သည်။ အစ်ဗ်လီစ်အား သို့သွေးဆောင် ဖြားယောင်းနိုင်စွမ်း ပေးထားတော်မူခြင်းမှာလည်း အကြောင်းမဲ့မဟုတ်၊ လူသားတို့အား စမ်းသပ်တော်မူရန်သာ ဖြစ်သည်။ လူသားတို့အနက် မည်သူမည်ဝါသည် နောင်တမလွန်ကိုယုံကြည်၍ အလ္လာဟ်အရှင်မြတ်အား အောက်မေ့တသသတိရသည်၊ မည်သူမည်ဝါသည် လောကီစည်းစိမ်များတွင် နစ်မွန်း၍ နောင်ရေးကိုမေ့နေသည်၊ နောင်တမလွန်ဘဝနှင့် စပ်လျဉ်း၍ ဒွိဟသံသယ ဖြစ်နေသည် စသည်များကို အထင်အရှား ခွဲခြားသိတော်မူရန်ဖြစ်သည်။

وَلَا تَنفَعُ الشَّفَٰعَةُ عِندَهُۥٓ إِلَّا لِمَنْ أَذِنَ لَهُۥ ۚ حَتَّىٰٓ إِذَا فُزِّعَ عَن قُلُوبِهِمْ قَالُوا۟ مَاذَا قَالَ رَبُّكُمْ ۖ قَالُوا۟ ٱلْحَقَّ ۖ وَهُوَ ٱلْعَلِىُّ ٱلْكَبِيرُ ﴿٢٣﴾

၂၃။ ၎င်းပြင် ထိုအရှင်တော်မြတ် အထံတော်တွင် ထိုအရှင်မြတ် ခွင့်ပြုတော်မူသောသူ၏အဖို့မှတပါး အခြားမည်သူတစ်ဦးတစ်ယောက်အဖို့မျှပင် *ကြားဝင်အသနားခံပေးမှုသည် အကျိုးရှိစေမည်မဟုတ်ပေ။* [၁] နောက်ဆုံးတွင် ကြောက်ရွံ့ထိတ်လန့်မှုသည် ၎င်းတို့၏ စိတ်နှလုံးများမှ ပပျောက်သွားလေသောအခါ "အသင်တို့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်သည် မည်သည်ကို မိန့်ကြားတော်မူပါသနည်း" ဟု ၎င်းတို့သည် (အချင်းချင်း) မေးမြန်းကြပေမည်။ (ထိုအခါ) ၎င်းတို့က အမှန်ကို (မိန့်ကြားတော်မူခဲ့သည်)ဟု ပြန်ကြားကြပေမည်။ [၂] စင်စစ်သော်ကား ထိုအရှင်မြတ်သည် လွန်စွာ မြင့်မြတ်ကြီးကဲတော်မူသောအရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

(၁) အထက်တွင် မက္ကာမြို့သားများနှင့် မဝေးလှသော ရှီဗာမျိုးနွယ်ဝင်များအကြောင်း မိန့်ဆိုထားတော်မူ၏။ ယခု ဤအာယတ်တော်များတွင် မက္ကာမြို့သား မုရှ်ရစ်က်များအား ရည်ညွှန်း၍ အလ္လာဟ်အရှင်မြတ်အပြင် ၎င်းတို့ကိုးကွယ်ရာအဖြစ် ထင်မှတ်ကိုးကွယ်နေကြသော ၎င်းတို့၏ ကိုးကွယ်ရာများသည် မည်သို့မျှ အသုံးမဝင်ကြသည့် အကြောင်းကို အကျယ်တဝင့် မိန့်ဆိုထားတော်မူသည်။

အမှန်မှာ မုရှ်ရစ်က်တို့၏ ကိုးကွယ်ရာများသည် ဤစကြာဝဠာကြီးကို စတင်ဖန်ဆင်းတော်မူရာတွင် ပါဝင်ခဲ့ကြသည်လည်း မဟုတ်ပေ။ ဤစကြာဝဠာကြီးဖြစ်ရှိလာပြီး နောက်တွင်လည်း ယင်းကိုးကွယ်ရာများသည် စိုးစဉ်းမျှ ပိုင်ဆိုင်ခဲ့ကြသည်လည်း မဟုတ်ပေ။ ယင်းကိုးကွယ်ရာများသည် အလ္လာဟ်အရှင်မြတ်ထံတော်ပါးတွင် ဝင်ရောက်၍ 'ရှဖာအတ်' အသနားခံပေးနိုင်ကြသည်လည်း မဟုတ်ပေ။ သို့ဖြစ်ရာ ယင်းကိုးကွယ်ရာများသည် အချည်းနှီးသာ ဖြစ်ကြပေသည်။

မုရှ်ရစ်က်တို့၏ ကိုးကွယ်ရာများသည် 'ရှဖာအတ်'နှင့် လားလားမျှ မအပ်စပ်ကြပေ။ အဘယ်ကြောင့်ဆိုသော် အလ္လာဟ်အရှင်မြတ်၏ထံတော်ပါး၌ ထိုအရှင်မြတ်၏ ခွင့်ပြုချက်မရှိက မည်သူမျှ 'ရှဖာအတ်' အသနားခံပေးဝံ့မည် မဟုတ်ပေ။

(၂) ဤအာယတ်တော်သည် ကောင်းကင်တမန်များကို ရည်ညွှန်းပေသည်။ အလ္လာဟ်အရှင်မြတ်ထံတော်မှ အမိန့်တော်တပါးပါး ကျရောက်လာသည့်အခါ၊ ကောင်းကင်တမန်များသည် အလ္လာဟ်အရှင်မြတ်၏ အတိုင်းမသိကြီးမားသော ဘုန်းတန်ခိုး၊ တေဇော်၏ အရှိန်အဝါကြောင့် အထိတ်ကြီးထိတ်၊ အလန့်ကြီးလန့်ကြလေသည်။ ထိုထိတ်လန့်မှုကြောင့် ကျရောက်လာသော အမိန့်တော်နှင့်စပ်လျဉ်း၍ မိမိတို့၏ ကြားနာမှု၊ နားလည်မှုကိုပင် အားကိုးအားထားမပြုနိုင်ပဲ ထိတ်လန့်မှု ပြေပျောက်သွားသောအခါ၊ အချင်းချင်း "အသင်တို့၏ အရှင်မြတ်က မည်သို့မိန့်ကြားတော် မူပါသနည်း" ဟူ၍ပင် ပြန်လည်မေးမြန်း၍ အမိန့်တော်ကို နာခံကြရလေသည်။ ➢➢

قُلْ مَنْ يَّرْزُقُكُمْ مِّنَ السَّمٰوٰتِ وَالْاَرْضِ ؕ قُلِ اللّٰهُ ۙ وَ اِنَّاۤ اَوْ اِيَّاكُمْ لَعَلٰى هُدًى اَوْ فِىْ ضَلٰلٍ مُّبِيْنٍ ﴿۲۴﴾

၂၄။ (အို-နဗီတမန်တော်) အသင်သည် မေးမြန်းပါလေ။ (အချင်းတို့၊) မိုးကောင်းကင်များမှလည်းကောင်း၊ ပထဝီမြေမှလည်းကောင်း၊ မည်သူသည် အသင်တို့အား စားနပ်ရိက္ခာ ချီးမြှင့်ပါသနည်း။ (ထို့နောက်) "အသင်သည် အလ္လာဟ်အရှင်မြတ်ပင် ချီးမြှင့်ပေးသနားတော်မူ၏" ဟု ဖြေကြားပါလေ။ ၎င်းပြင် ငါတို့သည် သို့မဟုတ် အသင်တို့သည်ပင် တရားလမ်းမှန်ပေါ်၌သော်လည်းကောင်း၊ ထင်ရှားစွာသောလမ်းမှားမှု၌သော်လည်းကောင်း၊ ရှိကြပေသည်။

قُلْ لَّا تُسْـَٔلُوْنَ عَمَّاۤ اَجْرَمْنَا وَلَا نُسْـَٔلُ عَمَّا تَعْمَلُوْنَ ﴿۲۵﴾

၂၅။ (အို-နဗီတမန်တော်) အသင်သည် ပြောကြားပါဦးလေ၊ (အချင်းတို့၊) "အသင်တို့သည်လည်း ငါတို့ ကျူးလွန်ခဲ့ကြသော ပြစ်မှုများနှင့်စပ်လျဉ်း၍ စစ်ဆေးမေးမြန်းခြင်းခံကြရမည် မဟုတ်ပေ၊ ငါတို့သည် အသင်တို့ ကျင့်မူကြသည်တို့နှင့် စပ်လျဉ်း၍ စစ်ဆေးမေးမြန်းခြင်း ခံကြရမည် မဟုတ်ပေ။" ၁

➤➤ အလ္လာဟ်အရှင်မြတ်၏ထံတော်ပါးရှိ ကောင်းကင်တမန်များသည်ပင် ဤရွေ့ဤမျှ ထိတ်လန့်နေကြရပေရာ၊ မုရှ်ရစ်ကတို့၏ ကိုးကွယ်ရာများနှင့် ရှိင်တွာန်များသည် ထိုအရှင့်ထံတော်ပါးသို့ အသို့လျှင် ချဉ်းကပ်နိုင်ကြအံ့နည်း။

ဤအာယတ်တော်နှင့် စပ်လျဉ်း၍ အခြားအဖွင့်များလည်းရှိသည်။ အကျယ်သိလိုက အစ်ဗ်နကဆီရ်ကျမ်း၊ အစ်ဗ်နဂျရီရ်ကျမ်းများကို ရှုပါကုန်။

(၁) ဤအာယတ်တော်များတွင် "မုချဧကန် ငါတို့သည် သို့မဟုတ် အသင်တို့သည် တရားလမ်းမှန်ပေါ်၌လည်းကောင်း၊ ထင်ရှားသော လမ်းမှားမှုပေါ်၌ လည်းကောင်းရှိကြသည်။ အသင်ပြောလေ၊ အသင်တို့သည်လည်း ငါတို့ကျူးလွန်ကြသော ပြစ်မှုများနှင့် စပ်လျဉ်း၍ မေးမြန်းခြင်းခံကြရမည်မဟုတ်၊ ငါတို့သည်လည်း အသင်တို့ပြုမူကြသည်များနှင့် စပ်လျဉ်း၍ မေးမြန်းခြင်းခံကြရမည်မဟုတ်" ဟု မိန့်ကြားထားတော်မူသည်။

အထက်ပါ အာယတ်တော်များတွင် တရားလမ်းမှန်ပေါ်၌ ရှိသောအုပ်စုနှင့် လမ်းမှားပေါ်၌ရှိသောအုပ်စုမှာ ထင်ရှားနေပါလျက် ငါတို့မှန်သည်၊အသင်တို့မှားသည်ဟု ယတိပြတ်ခွဲခြားသတ်မှတ်ခြင်း ပြုတော်မမူပဲ လုံး၍သုံးထားတော်မူသည်။ ထို့အတူ မုစ်လင်မ်တို့၏ အကျင့်သီလများကို ငါတို့ကျူးလွန်သော အပြစ်ဟူ၍လည်းကောင်း၊ ကာဖိရ်တို့၏ ပြစ်မှုများကို "အသင်တို့၏အကျင့်အမူ" ဟူ၍လည်းကောင်း တဆင့်လျော့၍ သုံးထားတော်မူသည်။ ဤသည်ဆန့်ကျင်ဘက်များနှင့် ဆက်ဆံပြောဆိုရာ၌ သာယာနာပျော်အောင်၊ မိမိတို့၏ စကားကို လက်ခံစဉ်းစားလာအောင် နူးညံ့သိမ်မွေ့စွာ ဆက်ဆံပြောဆိုရမည် ပရိယာယ်ဖြင့် ဆွဲဆောင်ရမည်ကို➤➤

قُلْ يَجْمَعُ بَيْنَنَا رَبُّنَا ثُمَّ يَفْتَحُ بَيْنَنَا بِالْحَقِّ وَهُوَ الْفَتَّاحُ الْعَلِيمُ ﴿٢٦﴾

၂၆။ (အို-နဗီတမန်တော်) အသင်သည် ပြောကြား ပါဦးလေ။ (အချင်းတို့၊) ငါတို့အား ဖန်ဆင်းမွေးမြူတော် မူသောအရှင်မြတ်သည် ငါတို့အား ("ကိယာမတ်" ရှင်ပြန်ထမည့်နေ့တွင်) စုရုံးတော်မူပေမည်။ ထို့နောက် ထိုအရှင်မြတ်သည် ငါတို့၏အကြား၌ မှန်ကန်စွာစီရင် ဆုံးဖြတ်တော်မူပေမည်။ စင်စစ် ထိုအရှင်မြတ်သည် လွန်စွာ စီရင်ဆုံးဖြတ်တော်မူသော၊ လွန်စွာ သိတော် မူသောအရှင် ဖြစ်တော်မူ၏။

قُلْ أَرُونِيَ الَّذِينَ أَلْحَقْتُم بِهِ شُرَكَاءَ كَلَّا بَلْ هُوَ اللَّهُ الْعَزِيزُ الْحَكِيمُ ﴿٢٧﴾

၂၇။ (အို-နဗီတမန်တော်) အသင်သည် ပြောကြား ပါဦးလေ။ (အချင်းတို့၊) အသင်တို့သည် တွဲဖက်များ အဖြစ် ထိုအရှင်မြတ်နှင့် ပေါင်းဖက်(ကိုးကွယ်)ခဲ့ကြ သောသူတို့ကို ငါ့အား ပြသကြလေကုန်၊ အလျှင်း မဟုတ်ပေ၊ စင်စစ်မှာ ထိုကိုးကွယ်ရာ အစစ်ဖြစ်သည့် အရှင်မြတ်မှာကား အလွန်တရာ နိုင်နင်းလွှမ်းမိုးတော် မူသော၊ ဆင်ခြင်တုံတရားနှင့် ပြည့်စုံတော်မူသော၊ အလ္လာဟ်အရှင်မြတ်ပင် ဖြစ်တော်မူပေသည်။

وَمَا أَرْسَلْنَاكَ إِلَّا كَافَّةً لِّلنَّاسِ بَشِيرًا وَنَذِيرًا وَلَٰكِنَّ أَكْثَرَ النَّاسِ لَا يَعْلَمُونَ ﴿٢٨﴾

၂၈။ (အို-နဗီတမန်တော်) အမှန်သော်ကား ငါ အရှင်မြတ်သည် အသင့်အား ခပ်သိမ်းကုန်သောလူတို့ အဖို့ ဝမ်းမြောက်ဖွယ်ရာသတင်း ပြောကြားသူအဖြစ် လည်းကောင်း၊ သတိပေးနှိုးဆော်သူအဖြစ်လည်းကောင်း၊ စေလွှတ်တော်မူခဲ့၏။ [၁] သို့ရာတွင် များစွာသောသူတို့ မှာ မသိ နားမလည်ကြပေ။

➤➤ သင်ကြားပြသထားတော်မူခြင်းပင်။ ဓမ္မကထိကများ၊ တရားဟောဆရာများ၊ အာလင်မ်ပညာရှင်များသည် ဤသည့်သဘောကို အထူးသတိပြုရာသတည်း။

(၁) **ကမ္ဘာ့တမန်တော်၊**

ဤအာယတ်တော်တွင် တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)သည် တိုင်းပြည်တစ်ပြည်၊ လူမျိုးတစ်မျိုး၊ ခေတ်တခေတ်အဖို့သာမဟုတ်ပဲ တိုင်းပြည်မရွေး၊ လူမျိုးမရွေး၊ ခေတ်မရွေး၊ စကြာဝဠာအဝန်းအဖို့ နောက်ဆုံးတမန်တော်၊ ကမ္ဘာ့တမန်တော်အဖြစ် ပွင့်လာတော်မူကြောင်း အတိအလင်း ကြေငြာထားတော်မူသည်၊ ➤➤

وَيَقُولُونَ مَتَىٰ هَٰذَا الْوَعْدُ إِن
كُنتُمْ صَادِقِينَ ﴿٢٩﴾

၂၉။ ထို့ပြင် ၎င်းတို့က "အကယ်၍ အသင်တို့သည် သစ္စာဝါဒီများ ဖြစ်ခဲ့ကြလျှင် ဤချိန်းဆိုချက်သည် မည်သည့်အခါ၌ ဖြစ်မြောက်အံ့နည်း" ဟု မေးမြန်းကြကုန်၏။

قُل لَّكُم مِّيعَادُ يَوْمٍ
لَّا تَسْتَأْخِرُونَ عَنْهُ سَاعَةً
وَلَا تَسْتَقْدِمُونَ ﴿٣٠﴾

၃၀။ အသင်သည် ဖြေကြားပါလေ၊ (အချင်းတို့၊) အသင်တို့အား အထူးနေ့တစ်နေ့ကို ချိန်းချက်ထားသည် ဖြစ်ပေရာ၊ အသင်တို့သည် ယင်းချိန်းချက်ထားသောနေ့မှ အချိန် အနည်းငယ်ခန့်မျှပင် နောက်ဆုတ်နိုင်ကြမည်လည်း မဟုတ်ပေ၊ ရှေ့တိုးနိုင်ကြမည်လည်း မဟုတ်ပေ။

وَقَالَ الَّذِينَ كَفَرُوا
لَن نُّؤْمِنَ بِهَٰذَا الْقُرْآنِ
وَلَا بِالَّذِي بَيْنَ يَدَيْهِ ۗ
وَلَوْ تَرَىٰ إِذِ الظَّالِمُونَ
مَوْقُوفُونَ عِندَ رَبِّهِمْ يَرْجِعُ
بَعْضُهُمْ إِلَىٰ بَعْضٍ الْقَوْلَ يَقُولُ
الَّذِينَ اسْتُضْعِفُوا لِلَّذِينَ
اسْتَكْبَرُوا لَوْلَا أَنتُمْ لَكُنَّا
مُؤْمِنِينَ ﴿٣١﴾

၃၁။ ၎င်းပြင် "ကာဖိရ်" မယုံမကြည် သွေဖည်ငြင်းပယ်သောသူတို့က "ကျွန်ုပ်တို့သည် ဤကုရ်အာန်ကျမ်းမြတ်ကိုလည်းကောင်း၊ ဤကုရ်အာန်ကျမ်းမြတ်အလျင်ရှိခဲ့သော (တောင်ရာတ်၊ အင်န်ဂျီလ်စသည့်)ကျမ်းများကိုလည်းကောင်း၊ အလျှင်းယုံကြည်မည်မဟုတ်" ဟု ပြောဆိုကြကုန်၏။ စင်စစ်သော်ကား မတရားကျူးလွန်ကြကုန်သောသူတို့သည် မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်၏ရှေ့တော်မှောက်တွင် မတ်တတ်ရပ်စေခြင်းကို ခံကြရ၍ အချင်းချင်း တစ်ဦးသည် တစ်ဦး၏အပေါ်သို့ အပြစ်လှည့်ချကြသည်ကို အသင် တွေ့မြင်ရလျှင် ကောင်းလေစွ။ (ထိုအခါ) နောက်လိုက်ငယ်သားတို့က အကြီးအကဲတို့အား "အကယ်၍သာ အသင်တို့မရှိခဲ့ကြလျှင် ကျွန်ုပ်တို့သည် အမှန်ပင် 'မုအ်မင်န်' သက်ဝင်ယုံကြည်သူများဖြစ်ကြမည်" ဟု ပြောဆိုကြပေမည်။

➤➤ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် ကမ္ဘာအဝှန်းအတွက် ပွင့်လာတော်မူသကဲ့သို့ တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်) ယူဆောင်လာသည့် အစ္စလာမ် သာသနာတော်သည်လည်း ကမ္ဘာ့အဝှန်း အတွက်ပင် ဖြစ်ပေသည်။

قَالَ الَّذِينَ اسْتَكْبَرُوا لِلَّذِينَ
اسْتُضْعِفُوا أَنَحْنُ صَدَدْنَاكُمْ عَنِ
الْهُدَىٰ بَعْدَ إِذْ جَاءَكُم بَلْ
كُنتُم مُّجْرِمِينَ ٣٢

၃၂။ (ထိုအခါ) အကြီးအကဲတို့က နောက်လိုက်ငယ်သားတို့အား ပြောဆိုကြပေမည်။ (အချင်းတို့၊) "အသင်တို့ထံ တရားလမ်းမှန် ရောက်ရှိ၍လာပြီးနောက် ကျွန်ုပ်တို့သည် အသင်တို့အား ယင်းတရားလမ်းမှန်မှ ပိတ်ပင်တားဆီးခဲ့ကြပါသလော၊ ထိုသို့ အလျှင်းမဟုတ်၊ စင်စစ်မှာကား အသင်တို့သည်ပင်လျှင် ပြစ်မှုကျူးလွန်သူများ ဖြစ်ခဲ့ကြကုန်၏"

وَقَالَ الَّذِينَ اسْتُضْعِفُوا
لِلَّذِينَ اسْتَكْبَرُوا بَلْ مَكْرُ اللَّيْلِ
وَالنَّهَارِ إِذْ تَأْمُرُونَنَا أَن نَّكْفُرَ
بِاللَّهِ وَنَجْعَلَ لَهُ أَندَادًا
وَأَسَرُّوا النَّدَامَةَ لَمَّا رَأَوُا
الْعَذَابَ وَجَعَلْنَا الْأَغْلَالَ فِي
أَعْنَاقِ الَّذِينَ كَفَرُوا هَلْ
يُجْزَوْنَ إِلَّا مَا كَانُوا يَعْمَلُونَ ٣٣

၃၃။ ထိုအချိန်တွင် နောက်လိုက်ငယ်သားတို့က အကြီးအကဲတို့အား "ထိုသို့ အလျှင်းမဟုတ်၊ စင်စစ်မှာကား နေ့ညဉ့်မပြတ်(ကြံစည်လျက်ရှိခဲ့ကြသောအသင်တို့၏) ကြံစည်မှုများကပင် (ပိတ်ပင်တားမြစ်ခဲ့၏)။ အကြင်အခါဝယ် ကျွန်ုပ်တို့သည် အလ္လာဟ်အရှင်မြတ်အား မယုံကြရန်လည်းကောင်း၊ ကျွန်ုပ်တို့သည် ထိုအရှင်မြတ်၌ ဂုဏ်ရည်တူများကို ပြုလုပ်ကြရန်လည်းကောင်း၊ အသင်တို့သည် ကျွန်ုပ်တို့အား အမိန့်ပေးတိုက်တွန်းလျက် ရှိခဲ့ကြသည်" ဟု ပြောဆိုကြပေမည်။

အမှန်သော်ကား ၎င်းတို့သည် ပြစ်ဒဏ်ကို မြင်ကြသောအခါ (မိမိတို့၏) နောင်တရမှုကို လျှို့ဝှက်ဖုံးအုပ်ထားကြပေမည်။ ထိုအခါ ငါအရှင်မြတ်သည် "ကာဖိရ်" မယုံမကြည် သွေဖည် ငြင်းပယ်ကြကုန်သောသူတို့၏ လည်ကုပ်များ၌ လည်ကွင်းများကို စွပ်ပေးတော်မူပေမည်။

(စင်စစ်သော်ကား) ၎င်းတို့သည် မိမိတို့ ကျင့်မှုလျက် ရှိခဲ့ကြသည်နှင့်အညီ အစားပေးခြင်းကိုသာ ခံကြရမည် ဖြစ်ပေသတည်း။

وَمَآ أَرْسَلْنَا فِى قَرْيَةٍ مِّن نَّذِيرٍ إِلَّا قَالَ مُتْرَفُوهَآ إِنَّا بِمَآ أُرْسِلْتُم بِهِۦ كَـٰفِرُونَ ﴿٣٤﴾

၃၄။ စင်စစ်သော်ကား ငါအရှင်မြတ်သည် မည်သည့်မြို့ရွာ၌မဆို သတိပေးနှိုးဆော်သူတပါးပါးကို စေလွှတ်တော်မူခဲ့သည့်အခါ ထိုမြို့ရွာရှိ စည်းစိမ်ရှင်တို့က "စကန်အမှန် ကျွန်ုပ်တို့သည် အသင်တို့ပေး၍ စေလွှတ်ခြင်းခံကြရသည့် (ဒီန်သာသနာ)ကို ငြင်းပယ်သူများပင် ဖြစ်ကြသည်" ဟု ပြောဆိုခဲ့ကြသည်သာ။

وَقَالُوا۟ نَحْنُ أَكْثَرُ أَمْوَٰلًا وَأَوْلَـٰدًا وَمَا نَحْنُ بِمُعَذَّبِينَ ﴿٣٥﴾

၃၅။ ထိုမှတပါး ၎င်းတို့က "ကျွန်ုပ်တို့သည် ပစ္စည်းဥစ္စာအားဖြင့်လည်းကောင်း၊ သားသမီးအားဖြင့်လည်းကောင်း၊ (အသင်တို့ထက်) ပေါများကြွယ်ဝသူများဖြစ်ကြပေရာ ကျွန်ုပ်တို့သည် ပြစ်ဒဏ်ပေးခြင်း ခံကြရမည့်သူများမဟုတ်ပေ" ဟု ပြောဆိုခဲ့ကြကုန်၏။ [၁]

قُلْ إِنَّ رَبِّى يَبْسُطُ ٱلرِّزْقَ لِمَن يَشَآءُ وَيَقْدِرُ وَلَـٰكِنَّ أَكْثَرَ ٱلنَّاسِ لَا يَعْلَمُونَ ﴿٣٦﴾

၃၆။ (အို-နဗီတမန်တော်) အသင်သည် (၎င်းတို့အား ပြောဆို)ဖြေကြားပါလေ။ (အချင်းတို့၊) စကန်စင်စစ် ငါ့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်သည် မိမိအလိုရှိတော်မူသောသူအား စားနပ်ရိက္ခာကို ကျယ်ဝန်းပေါများစွာ ချီးမြှင့်ပေးသနားတော်မူ၍ (မိမိအလိုရှိတော်မူသောသူအား) ကျပ်တည်းစေတော်မူ၏။ သို့ရာတွင် အများဆုံးသော သူတို့မှာ သိရှိကြသည် မဟုတ်ပေ။

---

(၁) ချမ်းသာကြွယ်ဝသူများက "အလ္လာဟ်အရှင်မြတ်သည် ငါတို့အား ကျေနပ်နှစ်သက်တော် မူ၍သာလျှင် ငါတို့အား ဤမျှလောက်များပြားစွာ၊ ဥစ္စာပစ္စည်း၊ သားသမီးများကို ချီးမြှင့်ထားတော် မူခြင်းဖြစ်သည်။ သို့မဟုတ်ပါမူ ထိုအရှင်မြတ်သည် ငါတို့အား ဤမျှဤမျှ ဥစ္စာပစ္စည်း သားသမီးများကို ချီးမြှင့်တော်မူမည်မဟုတ်၊ သို့ဖြစ်ရာ ငါတို့သည် မည်သည့်ပြစ်ဒဏ်ကိုမျှ ခံကြရမည်မဟုတ်။ စိုးရိမ်ကြရန်လည်းမလို"ဟု ပြောဆိုလေ့ရှိခဲ့ကြပေသည်။ ဤကားအမှားတည်း။

အဘယ်ကြောင့်ဆိုသော် ချမ်းသာမှုဆင်းရဲမှုသည် အလ္လာဟ်အရှင်မြတ်၏ နှစ်သက်မှု မနှစ်သက်မှု၏ သက်သေလက္ခဏာ မဟုတ်ပေ။ လူ့လောကတွင် များစွာသောလူဆိုး၊ လူမိုက်၊ အလဇ္ဇီ၊ သီလကြောင်၊ လူဗာလ၊ သာသနာပ၊ သာသနာ့ရန်စွယ်၊ ခမ္မန္တရာယ်များသည် ချမ်းသာကြွယ်ဝလျက် ရှိကြပေသည်။ များစွာသော အလ္လာဟ်အရှင်မြတ်အား ကြည်ညိုမြတ်နိုးသော သာသနာကိုလေးစားသော သူတော်စင်များ၊ လူကောင်း ➤➤

وَمَآ اَمۡوَالُكُمۡ وَلَاۤ اَوۡلَادُكُمۡ بِالَّتِىۡ تُقَرِّبُكُمۡ عِنۡدَنَا زُلۡفٰٓى اِلَّا مَنۡ اٰمَنَ وَعَمِلَ صَالِحًا فَاُولٰٓـئِكَ لَهُمۡ جَزَآءُ الضِّعۡفِ بِمَا عَمِلُوۡا وَهُمۡ فِى الۡغُرُفٰتِ اٰمِنُوۡنَ ﴿٣٧﴾

၃၇။ စင်စစ်သော်ကား အသင်တို့၏ ပစ္စည်းဥစ္စာများသည်လည်းကောင်း၊ အသင်တို့၏ သားသမီးများသည်လည်းကောင်း၊ အသင်တို့အား မည်သည့် အဆင့်အတန်း၌မျှ ငါအရှင်မြတ်၏အထံတော်သို့ နီးကပ်စေအံ့သော အရာများ မဟုတ်ပေ။ သို့ရာတွင် မည်သူမဆို "အီမာန်" သက်ဝင်ယုံကြည်၍ ကောင်းမြတ်သော အကျင့်သီလကို ကျင့်မူဆောက်တည်ခဲ့မူ ၎င်းတို့အဖို့ ၎င်းတို့ ကျင့်မူဆောက်တည်ခဲ့ကြကုန်သော အကျင့်သီလများ၏ တိုးသောအကျိုးရှိသည့်အပြင် ၎င်းတို့သည် မြင့်စွင့်သောအဆောင်များ၌ ဘေးရန်ခပ်သိမ်းကင်းငြိမ်းစွာ ရှိကြပေမည်။

وَالَّذِيۡنَ يَسۡعَوۡنَ فِىۡۤ اٰيٰتِنَا مُعٰجِزِيۡنَ اُولٰٓـئِكَ فِى الۡعَذَابِ مُحۡضَرُوۡنَ ﴿٣٨﴾

၃၈။ သို့ရာတွင် ငါအရှင်မြတ်၏ အာယတ်တော်များကို ပျက်ပြားအောင် ကြိုးပမ်းဆောင်ရွက်လျက် ရှိကြသော သူတို့မှာမူကား ပြစ်ဒဏ်၌ အဆင်သင့်ရောက်ရှိစေခြင်းခံကြရမည့်သူများပင် ဖြစ်ကြကုန်၏။

قُلۡ اِنَّ رَبِّىۡ يَبۡسُطُ الرِّزۡقَ لِمَنۡ يَّشَآءُ مِنۡ عِبَادِهٖ وَيَقۡدِرُ لَهٗ ؕ وَمَاۤ اَنۡفَقۡتُمۡ مِّنۡ شَىۡءٍ فَهُوَ يُخۡلِفُهٗ ۚ

၃၉။ (အို-နဗီတမန်တော်) အသင်သည် ပြောကြားပါဦးလေ။ (အချင်းတို့) ဧကန်မလွဲ ငါ့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်သည် မိမိကျွန်များအနက် မိမိအလိုရှိတော်မူသောသူအား စားနပ်ရိက္ခာကို ကျယ်ဝန်းပေါများစွာ ချီးမြှင့်ပေးသနားတော်မူ၍ (မိမိအလိုရှိတော်မူသော) သူအား (စားနပ်ရိက္ခာကို) ကျပ်တည်းစေတော်မူ၏။

---

➤➤ လူတော်များ၊ ပညာရှိများသည် ဆင်းရဲလျက် ရှိကြပေသည်။ ဤကားမျက်မြင်ပင်၊ ဤသည်ကို ထောက်ရှုခြင်းအားဖြင့် ချမ်းသာမှု၊ ဆင်းရဲမှုသည် အလ္လာဟ်အရှင်မြတ် ထံတော်၌ နှစ်သက်မှု မနှစ်သက်မှု လက်ခံမှုလက်မခံမှု၏ သက်သေလက္ခဏာ မဟုတ်ကြောင်း ကောင်းစွာသိရှိနိုင်ပေသည်။ အမှန်မှာဤသည် အလ္လာဟ်အရှင်မြတ်၏ နက်နဲလှသော စီမံဖန်ဆင်းမှုသာဖြစ်သည်။ ဤသည့်နက်နဲလှသော သဘောတရားကို များစွာသော လူသားတို့သည် မသိနားလည်ကြပေ။

وَهُوَ خَيْرُ الرّٰزِقِيْنَ ﴿٣٩﴾

ၓင်းပြင် အသင်တို့သည် မည်သည့် တစုံတရာ ကိုမဆို (ထိုအရှင်မြတ် နှစ်လိုတော်မူရာ၌) သုံးစွဲ လှူဒါန်းခဲ့ကြလျှင် ထိုအရှင်မြတ်သည် ၎င်း၏အစားကို ပေးတော်မူပေမည်။ ထိုမှတပါး ထိုအရှင်မြတ်သည် စားနပ်ရိက္ခာ ချီးမြှင့်သူတို့အနက် အကောင်းဆုံးပင် ဖြစ်တော်မူပေသတည်း။

وَيَوْمَ يَحْشُرُهُمْ جَمِيْعًا ثُمَّ يَقُوْلُ لِلْمَلٰٓئِكَةِ اَهٰٓؤُلَآءِ اِيَّاكُمْ كَانُوْا يَعْبُدُوْنَ ﴿٤٠﴾

၄၀။ ၎င်းပြင် အကြင်နေ့တွင် ထိုအရှင်မြတ်သည် ၎င်းတို့အားလုံးကို စုရုံးတော်မူပြီးနောက် "မလာအိကဟ်" ကောင်းကင်တမန်တို့အား "ဤသူတို့သည် အသင် တို့အား ဆည်းကပ်ကိုးကွယ်လျက် ရှိခဲ့ကြသည်လော" ဟု မေးမြန်းတော်မူပေမည်။

قَالُوْا سُبْحٰنَكَ اَنْتَ وَلِيُّنَا مِنْ دُوْنِهِمْ ۚ بَلْ كَانُوْا يَعْبُدُوْنَ الْجِنَّ ۚ اَكْثَرُهُمْ بِهِمْ مُّؤْمِنُوْنَ ﴿٤١﴾

၄၁။ ထို "မလာအိကဟ်" ကောင်းကင်တမန်တို့က (ဤသို့)လျှောက်ထားခဲ့ကြပေမည်။ (အိုး-အရှင်မြတ်၊) အရှင်မြတ်သည် စင်ကြယ် သန့်ရှင်းတော်မူပါ၏။ ကျွန်တော်မျိုးတို့သည် အရှင်မြတ်နှင့်သာ ပတ်သက်ကြ ပါသည်။ ၎င်းတို့နှင့် မပတ်သက်ကြပါ။ စင်စစ်မှာကား ၎င်းတို့သည် ဂျင်န်သတ္တဝါများကိုသာ ဆည်းကပ် ကိုးကွယ်လျက် ရှိခဲ့ကြပါသည်။ ၎င်းတို့အနက် အများဆုံးသောသူတို့မှာ ဂျင်န်သတ္တဝါများကိုပင် ယုံကြည်သူများ ဖြစ်ခဲ့ကြပါသည်။ [၁]

(၁) များစွာသော မုရှ်ရိစ်က်များသည် ကောင်းကင်တမန်များအား အလ္လာဟ်အရှင်မြတ်၏ သမီးတော်များဟု ခေါ်ဆိုခဲ့ကြသည်။ ပုံတူများပြုလုပ်၍ ကိုးကွယ်ခဲ့ကြသည်။ သို့မုရှ်ရိစ်က်များက ကောင်းကမင်တမန်များအား ကိုးကွယ်နေခဲ့ကြခြင်းမှာ မုရှ်ရိစ်က်တို့၏ အပြုအမူသာလျှင် ဖြစ်ချေသည်။ ကောင်းကင်တမန်များက မိမိတို့အား ကိုးကွယ်ရန် ညွှန်ကြားခဲ့ကြသည်လည်း မဟုတ်။ မိမိတို့အား ဤသို့ကိုးကွယ်နေခဲ့ကြသည်ကို ကျေနပ်ခဲ့ကြ သည်လည်းမဟုတ်၊ ကောင်းကင်တမန်များသည် အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်များကို ဦးလည်မသုန် လိုက်နာနေကြသော ဖြူစင်သန့်ရှင်း အပြစ်ကင်းသော အဖန်ဆင်းခံများသာ ဖြစ်ကြပေသည်။ မုရှ်ရိစ်က်တို့၏ ကိုးကွယ်မှုနှင့် မည်သို့မျှ မပတ်သက်ကြပေ။

➤➤ ဂျင်န်ရှိုင်တွာန်များမှာမူကား၊ မုရှ်ရိစ်က်တို့ကို ၎င်းတို့အား ကိုးကွယ်စေခဲ့ကြသည်။ ကြည့်ကုရ်အာန် ➤➤

فَالْيَوْمَ لَا يَمْلِكُ بَعْضُكُمْ لِبَعْضٍ نَّفْعًا وَّلَا ضَرًّا ۭ وَنَقُوْلُ لِلَّذِيْنَ ظَلَمُوْا ذُوْقُوْا عَذَابَ النَّارِ الَّتِيْ كُنْتُمْ بِهَا تُكَذِّبُوْنَ ۝٤٢

၄၂။ သို့ဖြစ်ပေရာ ယနေ့သော်ကား အသင်တို့အနက် အချို့သည် အချို့ကို အကျိုးပြုရန်လည်း ပိုင်ဆိုင်ခွင့် မရှိပြီ။ အကျိုးယုတ်စေရန်လည်း ပိုင်ဆိုင်ခွင့် မရှိတော့ပြီ။ ထိုမှတပါး ငါအရှင်မြတ်သည် (မိမိကိုယ်မိမိ) နှိပ်စက် ညှဉ်းပမ်းခဲ့ကြသော သူတို့အား "အသင်တို့သည် မဟုတ်မမှန်ဟူ၍ စွပ်စွဲငြင်းပယ်ခဲ့ကြသောငရဲမီး၏ပြစ်ဒဏ်ကို မြည်းစမ်းကြလေကုန်" ဟု မိန့်ကြားတော်မူအံ့သတည်း။

وَاِذَا تُتْلٰى عَلَيْهِمْ اٰيٰتُنَا بَيِّنٰتٍ قَالُوْا مَا هٰذَآ اِلَّا رَجُلٌ يُّرِيْدُ اَنْ يَّصُدَّكُمْ عَمَّا كَانَ يَعْبُدُ اٰبَاۤؤُكُمْ ۚ وَقَالُوْا مَا هٰذَآ اِلَّآ اِفْكٌ مُّفْتَرًى ۭ وَقَالَ الَّذِيْنَ كَفَرُوْا لِلْحَقِّ لَمَّا جَاۗءَهُمْ ۙ اِنْ هٰذَآ اِلَّا سِحْرٌ مُّبِيْنٌ ۝٤٣

၄၃။ စင်စစ်သော်ကား ငါအရှင်မြတ်၏ ထင်ရှားစွာသော အာယတ်တော်များသည် ၎င်းတို့၏ ရှေ့မှောက်ဝယ် ဖတ်ကြားခြင်းခံခဲ့ကြရလေသောအခါ ၎င်းတို့က "ဤသူသည် အသင်တို့အား အသင်တို့၏ အဘဘိုးဘေးတို့ ဆည်းကပ်ကိုးကွယ်လျက် ရှိခဲ့ကြသည်များကို (ဆည်းကပ်ကိုးကွယ်ခြင်း)မှ ပိတ်ပင် တားဆီးလိုသူတစ်ဦးသာလျှင်ဖြစ်သည်" ဟု ပြောဆိုခဲ့ကြသည့်ပြင် ဤ"(ကုရ်အာန်)သည် ကြံဖန်လီဆယ်ထားသော မုသားစကားတရပ်သာလျှင် ဖြစ်သည်" ဟူ၍လည်း ပြောဆိုခဲ့ကြကုန်၏။ ထိုမှတပါး "ကာဖိရ်" သွေဖည်ငြင်းပယ်ခဲ့ကြသော သူတို့က မိမိတို့ထံ အမှန်တရားရောက်ရှိ၍ လာသောအခါ ယင်းအမှန်တရားနှင့် စပ်လျဉ်း၍ "ဤသည် ထင်ရှားစွာသော ပဉ္စလက်အတတ် ပညာတရပ်သာလျှင် ဖြစ်သည်" ဟု ဆိုကြကုန်၏။

>> (၇၂း၆)။ သို့ကိုးကွယ်ရန် ဂျင်န်ရှိုင်တွာန်များ ကိုယ်တိုင်ကလည်း ညွှန်ကြားခဲ့ကြသည်။ မိမိတို့အား မုရှ်ရစ်ကျ်များက ကိုးကွယ်ခဲ့ကြသည်ကိုလည်း ကျေနပ်ခဲ့ကြသည်။ ကိယာမတ်နေ့တွင် အလ္လာဟ်အရှင်မြတ်က မုရှ်ရစ်ကျ်များအား ရှေ့တော်သို့သွင်း၍ ကောင်းကင်တမန်များအား မေးမြန်းတော်မူခြင်းမှာ ကုရ်အာန် (၅း၁၁၆-၁၁၇)တွင် လာရှိသည့်အတိုင်း တမန်တော်အီစာအား မေးမြန်းတော်မူခြင်းမျိုးသာ ဖြစ်ချိမ့်မည်။ မုရှ်ရစ်ကျ်တို့၏ ထင်မြင်ယူဆချက်များမှားယွင်းကြောင်း ထင်ရှားစေရန်နှင့် မုရှ်ရစ်ကျ်များ ခဲလေသမျှသဲရေကျစေရန်သာ ဖြစ်ပေမည်။

وَمَآ اٰتَيۡنٰهُمۡ مِّنۡ كُتُبٍ يَّدۡرُسُوۡنَهَا وَمَآ اَرۡسَلۡنَاۤ اِلَيۡهِمۡ قَبۡلَكَ مِنۡ نَّذِيۡرٍؕ ﴿٤٤﴾

၄၄။ စင်စစ်မှာမူကား ငါအရှင်မြတ်သည် ၎င်းတို့အား ကျမ်းဂန်များကို ချီးမြှင့်ပေးသနားတော်မူခဲ့သည်လည်း မဟုတ်။ ၎င်းတို့သည် ယင်းကျမ်းဂန်များကို ဖတ်ရှုတ်သင်ကြားလျက် ရှိကြသည်(လည်း မဟုတ်ပေ)၊ ငါအရှင်မြတ်သည် အသင့်အလျင် ၎င်းတို့ထံ သတိပေး နှိုးဆော်သူတစ်ဦးတစ်ယောက်ကိုမျှ စေလွှတ်တော်မူခဲ့သည်လည်း မဟုတ်ပေ။

وَكَذَّبَ الَّذِيۡنَ مِنۡ قَبۡلِهِمۡ ۙ وَمَا بَلَغُوۡا مِعۡشَارَ مَاۤ اٰتَيۡنٰهُمۡ فَكَذَّبُوۡا رُسُلِىۡ فَكَيۡفَ كَانَ نَكِيۡرِ ﴿٤٥﴾

၄၅။ ၎င်းတို့အလျင် ရှိခဲ့ကြသောသူများသည်လည်း မဟုတ်မမှန်ဟူ၍ စွပ်စွဲ ငြင်းပယ်ခဲ့ကြကုန်၏။ စင်စစ် ဤ(လက်ရှိ)သူတို့မှာ ထို(ရှေး)သူတို့အား ငါအရှင်မြတ် ချီးမြှင့်ပေးသနားတော်မူခဲ့သည့် (စည်းစိမ်ချမ်းသာ)၏ ဆယ်ပုံတစ်ပုံကိုမျှ ရရှိကြသည် မဟုတ်ပေ။ မည်သို့ပင်ဖြစ်စေ၊ ထို(ရှေး)သူတို့သည် ငါအရှင်မြတ်၏ ရစူလ်တမန်တော်များအား မုသာဝါဒီများဟူ၍ စွပ်စွဲ ငြင်းပယ်ခဲ့ကြပေရာ ငါအရှင်မြတ်၏ ပြစ်ဒဏ်သည်ကား မည်သို့ရှိခဲ့ချေသနည်း။

قُلۡ اِنَّمَاۤ اَعِظُكُمۡ بِوَاحِدَةٍ ۚ اَنۡ تَقُوۡمُوۡا لِلّٰهِ مَثۡنٰى وَفُرَادٰى ثُمَّ تَتَفَكَّرُوۡا ۚ مَا بِصَاحِبِكُمۡ مِّنۡ جِنَّةٍ ؕ

၄၆။ (အို-နဗီတမန်တော်) အသင်သည် ပြောကြားပါလေ။ (အချင်းတို့၊) "ငါသည် အသင်တို့အား ကိစ္စတခုကိုသာ တိုက်တွန်းနှိုးဆော်လို၏။ အသင်တို့သည် အလ္လာဟ်အရှင်မြတ်အား ရည်သန်၍ တစ်ယောက်စီ နှစ်ယောက်စီ ထကြပြီးလျှင် မိမိတို့၏အဖော်ဖြစ်သူ (ငါ)၌ ရူးသွပ်ခြင်းဝေဒနာရှိပါသလော" ဟု စဉ်းစား ဆင်ခြင်ကြလေကုန်။ [၁]

---

(၁) တမန်တော်ဟုတ်မဟုတ် လက်တွေ့စဉ်းစားဆင်ခြင်ရန် တခုတည်းသော အကြံ၊

ဤအာယတ်တော်၏အလိုသဘောမှာ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)က ကျွန်ုပ်တမန်တော် ဟုတ်မဟုတ် ဝေဖန်သုံးသပ်နိုင်ရန် တစ်ခုတည်းသော အကြံပေးလိုသည်မှာ အသင်တို့သည် ပုဂ္ဂိုလ်စွဲ၊ ဝါဒစွဲမပါဘဲ၊ ပရိယာယ်မဖက်၊ အလ္လာဟ်အရှင်မြတ်အတွက် သက်သက် စိတ်စေတနာ ဖြူစင်စွာနှင့် မျှတသောစိတ်ထားဖြင့် အမှန်တရားကို ဆည်းပူးလိုသောစေတနာနှင့် လက်တွေ့စဉ်းစား ဆင်ခြင်ကြည့်ကြပါ၊ ➢➢

إِنْ هُوَ إِلَّا نَذِيرٌ لَّكُم بَيْنَ يَدَيْ عَذَابٍ شَدِيدٍ ۝٤٦

ထိုအသင်တို့၏ အဖော်ဖြစ်သူ (ငါ)သည် အသင်တို့အား ပြင်းထန်စွာသော ပြစ်ဒဏ် မကျရောက်မီ (ကြိုတင်) သတိပေး နှိုးဆော်သူတစ်ဦးသာလျှင် ဖြစ်ချေသတည်း။

قُلْ مَا سَأَلْتُكُم مِّنْ أَجْرٍ فَهُوَ لَكُمْ ۖ إِنْ أَجْرِيَ إِلَّا عَلَى

၄၇။ (အို-နဗီတမန်တော်) အသင်သည် ပြောကြားပါလေ။ “(အချင်းတို့၊) ငါသည် အသင်တို့ထံ (အဖိုးအခ) တစုံတရာ တောင်းခဲ့သည် ရှိလျှင် ယင်းအဖိုးအခမှာ အသင်တို့အဖို့သာလျှင် ဖြစ်၏။

---

➤➤ အချင်းချင်း တိုင်ပင်ဆွေးနွေးကြပါ၊ တစ်ဦးချင်းလည်း စဉ်းစားကြည့်ကြပါ၊ အသင်တို့၏ အဆွေ(ကျွန်ုပ်တမန်တော်မြတ် မုဟမ္မဒ်)သည် အသင်တို့နှင့်အတူ နှစ်ပေါင်း (၄၀) ကျော်ကျော်နေထိုင်ခဲ့သည်။ အသင်တို့မျက်စိအောက်မှာပင် ငယ်ရာမှကြီးပြင်းလာခဲ့သည်။ အသင်တို့၏အဆွေ၏ ဘဝဖြစ်စဉ်တစ်လျှောက်လုံးကို စလယ်ဆုံး အသင်တို့ သိကြသည်။

အသင်တို့သည် သူ၏သစ္စာရှိမှု၊ ကတိတည်မှု၊ ရိုးသားမှု၊ ဖြောင့်မတ်မှန်ကန်မှု ကာလ္လဏ်ထိန်းသိမ်းမှု၊ ကိုယ်ကျင့်တရား ကောင်းမြတ်မှု၊ အသိဉာဏ်အမြော်အမြင် ရှိမှုများကို အသင်တို့ကိုယ်တိုင် ထုတ်ဖော်ဝန်ခံကြသည်၊ သူသည် အသင်တို့ထံမှ တစ်စုံတရာအဖိုးအခ အကျိုးကျေးဇူးတစ်စုံတရာ အခွင့်အရေး တစ်စုံတရာ တောင်းသည်လည်း မရှိ၊ အသင်တို့သည် သူနှင့်ပတ်သက်၍ မည်သည့်အရေးကိစ္စတွင်မှ သူသည်မိမိ၏ စိတ်အလိုဆန္ဒဘက်သို့ ယိမ်းညွှတ်ခဲ့ဖူးသည်။ သို့မဟုတ် သူသည် ကိုယ်ကျိုးရှာခဲ့ဖူးသူဟူ၍လည်း ယိုးစွပ် ပြောဆိုနိုင်ခဲ့ ကြသည်လည်းမရှိ။

သို့ဖြစ်ပေရာ (မပြောစကောင်း) အသင်တို့၏အဆွေ၌ နေယင်း၊ ထိုင်ယင်း၊ ရှူးသွပ်ခြင်းဝေဒနာစွဲကပ်ပြီး အကြောင်းမဲ့၊ အကျိုးမဲ့ အားလုံးတို့အား ရန်သူပြုလုပ်ထားသည်ဟု ထင်မှတ်နိုင်ကြမည်လော။ ရူးသွပ်သူတစ်ဦးသည် ဤကဲ့သို့ အဖိုးထိုက်တန်သော ပညာအပြည့်အဝပါသော သူမတူသော စကားများကို ပြောဆိုနိုင်ပါသလော။ သူရူးတဦးသည် မိမိ၏အမျိုးသားများ၏ ကောင်းစားရေးကို ဤရွေ့ဤမျှ လိုလားပါသလော၊ သူရူးတဦးသည် မိမိ၏အမျိုးသားများ၏ နှစ်ဘဝကောင်းစားရေးအတွက် ဤရွေ့ဤမျှ ပြည့်ဝစုံလင်သော၊ မှန်ကန်တိကျသော အစီအစဉ်များကို တင်ပြနိုင်ပါသလော။

သူသည် အသင်တို့အား အနာဂတ်၌ သက်ရောက်အံ့သော ဘေးအန္တရာယ်များကို ကြိုတင်သတိပေးနေသူ တစ်ဦးသာ ဖြစ်သည်။ အတိတ်ဖြစ်ရပ်များကို တိကျစွာ ပြောပြလျှက်ရှိသည်။ အကောင်းနှင့်အဆိုးကို ကျိုးကြောင်းပြ၍ ပြောပြလျက်ရှိသည်။ ဤသည်တို့သည် သူရူးတို့၏ အလုပ်မဟုတ်၊ တမန်တော်များ၏ အလုပ်သာဖြစ်သည်။ အသင်တို့သည် ရိုးသားစွာ စဉ်းစားဆင်ခြင်ကြပါက အသင်တို့၏အဆွေသည် သူရူးမဟုတ်ကြောင်း၊ တမန်တော် အစစ်သာလျှင်ဖြစ်သည်ကို ကောင်းစွာ နားလည်သဘောပေါက် ကြပေမည်”။

اللّٰهِ ۚ وَهُوَ عَلٰى كُلِّ شَىْءٍ شَهِيْدٌ ﴿٤٧﴾

အဘယ်ကြောင့်ဟူမူ ငါ့(အား) အကျိုးကျေးဇူး (ပေးသနားတော်မူရန် တာဝန်)မှာကား အလ္လာဟ် အရှင်မြတ်အပေါ်၌သာ ရှိသောကြောင့်ပင်။ အမှန်သော်ကား ထိုအရှင်မြတ်သည် အရာခပ်သိမ်းတို့အပေါ်၌ အသိသက်သေပင် ဖြစ်တော်မူ၏။" ၁

قُلْ اِنَّ رَبِّىْ يَقْذِفُ بِالْحَقِّ ۚ عَلَّامُ الْغُيُوْبِ ﴿٤٨﴾

၄၈။ (အို-နဗီတမန်တော်) အသင်သည် ပြောကြားပါဦးလေ။ "(အချင်းတို့) ဧကန်မလွဲ ငါ့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်သည် (အမှားကို) အမှန်တရားဖြင့် နှိမ်နင်းတော်မူ၏။ (ထိုအရှင်မြတ်သည်) အကွယ်၌ရှိသမျှတို့ကို ကောင်းစွာ သိရှိတော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူ၏။"

قُلْ جَآءَ الْحَقُّ وَمَا يُبْدِئُ الْبَاطِلُ وَمَا يُعِيْدُ ﴿٤٩﴾

၄၉။ (အို-နဗီတမန်တော်) အသင်သည် ပြောကြားပါဦးလေ။ "(အချင်းတို့၊) အမှန်တရားသည် ရောက်ရှိ၍ လာခဲ့ချေပြီ။ စင်စစ်သော်ကား အမှားသည် (တစုံတရာကို) ဖြစ်ပေါ်စေသည်လည်းမဟုတ်ပေ။ (တစုံတရာ)ကို ပြန်၍ ယူလာသည်လည်း မဟုတ်ပေ။ (ယိုယွင်း ပျက်စီးချေပြီ)။" ၂

---

① **တမန်တော်မြတ် လိုလားတော်မူသောအရာ၊**

တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)က မိမိ၏အမျိုးသားများအား အတည့်အလင်းဖွင့်ဟ ပြောကြားတော်မူခဲ့သည်မှာ "ကျွန်ုပ်သည် အသင်တို့ထံမှ တစုံတစ်ရာအဖိုးအခ၊ အကျိုးကျေးဇူး၊ ရာထူးဌာနန္တရ အလိုမရှိပါ။ အကယ်တန္တု ကျွန်ုပ်သည်အသင်တို့ထံမှ တစ်စုံတရာအဖိုးအခ တောင်းခဲ့သည်ဟု အသင်တို့ ထင်မြင်ယူဆခဲ့ပါလျှင် ထိုသည့်အဖိုးအခသည် အသင်တို့အဖို့သာ ဖြစ်ပါသည်။ မိမိတို့ထံ၌ပင်၊ ထားရှိကြပါ။ ကျွန်ုပ်မလိုပါ။ အသင်တို့ထံမှ ကျွန်ုပ်လိုလားသောအရာမှာ အဖိုးအခလည်းမဟုတ်၊ ရာထူးဌာနန္တရလည်းမဟုတ်၊ အီမာန်နှင့် အစ္စလာမ်သာဖြစ်ပါသည်။ ဤသည်လည်း အသင်တို့အကျိုးငှာဖြစ်ပါသည်။ ဤမှတစ်ပါး အခြားတစ်စုံတစ်ရာကိုမျှ အလိုမရှိပါ။"

② **အမှန်ရောက်၍ အမှားပျောက်ပြီ၊**

ဆိုလိုသည်ကား အစ္စလာမ်တည်းဟူသော အမှန်တရားရောက်ရှိလာပြီ၊ ယခုဤအမှန်တရားကို မည်သည့်အင်အားစုကမျှ ပိတ်ပင်တားဆီးနိုင်သည်မရှိပြီ၊ အမှန်တရားသည် ရှေ့သို့တောက်လျှောက် ချီတက်သွားတော့မည်ဖြစ်သည်။ အားလုံးကို လွှမ်းမိုးတော့မည်ဖြစ်သည်။ အမှားဟူသမျှကို ချေမှုန်းတော့မည် ➤➤

قُلْ اِنْ ضَلَلْتُ فَاِنَّمَآ اَضِلُّ عَلٰى نَفْسِيْ ۚ وَاِنِ اهْتَدَيْتُ فَبِمَا يُوْحِيْٓ اِلَيَّ رَبِّيْ ۭ اِنَّهٗ سَمِيْعٌ قَرِيْبٌ ۝٥٠

၅၀။ (အို–နဗီတမန်တော်) အသင်သည် ပြောကြားပါလေ။ "(အချင်းတို့၊) အကယ်၍ ငါသည် လမ်းမှားခဲ့မူ၊ ငါသည် မိမိကိုယ်နှင့်ဆန့်ကျင်၍သာ လမ်းမှားခဲ့ခြင်းဖြစ်မည်။ (ငါ၏အမှားဒဏ်ကို ငါသာခံရမည်၊) သို့ရာတွင် အကယ်၍ ငါသည် တရားလမ်းမှန် ရရှိခဲ့သည်ဖြစ်မူ ငါ့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်က ငါ့ထံသို့ "ဝဟီ" အမိန့်တော် ထုတ်ပြန်တော်မူသောကြောင့်ပင်ဖြစ်၏။ ဧကန်မလွဲ ထိုအရှင်မြတ်သည် အလွန်တရာကြားသိတော်မူသော၊ အလွန်တရာ နီးကပ်စွာရှိတော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

وَلَوْ تَرٰٓى اِذْ فَزِعُوْا فَلَا فَوْتَ وَاُخِذُوْا مِنْ مَّكَانٍ قَرِيْبٍ ۝٥١

၅၁။ စင်စစ် အကယ်၍ အသင်သည် (၎င်းတို့အား) ၎င်းတို့ ထိတ်လန့် ကြောက်ရွံ့ကြသည့်အခါတွင် တွေ့မြင်ပါလျှင် (အံ့သြသွားပေမည်)။ ထိုအခါ ၎င်းတို့သည် ထွက်ပြေး လွတ်မြောက်နိုင်ခြင်းမရှိဘဲ အနီးအနားမှာပင် ဖမ်းဆီးခြင်းကို ခံကြရပေမည်။

وَّقَالُوْٓا اٰمَنَّا بِهٖ ۚ وَاَنّٰى لَهُمُ التَّنَاوُشُ مِنْ مَّكَانٍۢ بَعِيْدٍ ۝٥٢

၅၂။ ထိုအခါ ၎င်းတို့က "ကျွန်တော်မျိုးတို့သည် ဤ(မှန်ကန်သော "ဒီန်" သာသနာ)ကို ယုံကြည်ကြပါပြီ" ဟု ပြောဆိုကြပေမည်။ သို့ရာတွင် ၎င်းတို့သည် ဤမျှ ဝေးလံစွာသောနေရာမှ ("အီမာန်" သက်ဝင်ယုံကြည်မှုကို) အဘယ်မှာလျှင် ရယူနိုင်ကြအံ့နည်း။ ၁

---

➤➤ ဖြစ်သည်။ အမှားသည် အမှန်၏ရှေ့မှောက်တွင် မည်သို့မျှ ရပ်တည်နိုင်တော့မည်မဟုတ်ပေ။ အမှားသည် အမှားသာဖြစ်သည်။ ယိုယွင်းပျက်စီးချေပြီ။

တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် မက္ကာမြို့တော်ကို ပြန်လည်အောင်နိုင် သိမ်းပိုက်တော်မူသည့်နေ့တွင် ဤအာယတ်တော်ကို ရွတ်ဖတ်တော်မူလျက် ရှိတော်မူခဲ့ပေသည်။

(၁) ကာဖိရ်များသည် ဤပစ္စက္ခဘဝတွင် စကားကြီးစကားကျယ် ပြောဆိုနေကြ၏။ သို့ရာတွင် ကိယာမတ်နေ့တွင် ၎င်းတို့၏အဖြစ်ကား အလွန်ကြည့်ဖွယ်၊ အံ့သြဖွယ်ကောင်းပေမည်။ ကိယာမတ်နေ့တွင် ကာဖိရ်များသည်➤➤

وَقَدْ كَفَرُوا بِهِ مِنْ قَبْلُ ۖ وَيَقْذِفُونَ بِالْغَيْبِ مِنْ مَّكَانٍ بَعِيدٍ ﴿٥٣﴾

၅၃။ စင်စစ်ကေန် ၎င်းတို့သည် ရှေးဦးမဆွကပင် ယင်းမှန်ကန်သော "ဒီန်" သာသနာတော်ကို ငြင်းပယ်လျက် ရှိခဲ့ကြသည်သာမက မသိမမြင်ဘဲလျက် ဝေးစွာသော နေရာမှ ရမ်းဆပြောဆို စွပ်စွဲလျက်ပင် ရှိခဲ့ကြကုန်၏။

وَحِيلَ بَيْنَهُمْ وَبَيْنَ مَا يَشْتَهُونَ كَمَا فُعِلَ بِأَشْيَاعِهِم مِّن قَبْلُ ۚ إِنَّهُمْ كَانُوا فِي شَكٍّ مُّرِيبٍ ﴿٥٤﴾

၅၄။ ၎င်းပြင် (ထိုနေ့တွင်) ရှေးယခင်က ၎င်းတို့ကဲ့သို့သောသူတို့အား ပြုလုပ်ခဲ့သည့်နည်းတူ ၎င်းတို့နှင့် ၎င်းတို့ အာသာဆန္ဒရှိကြသောအရာများ၏ အကြား၌ အကာအဆီးတခု ပြုလုပ်ခြင်း ခံရပေမည်။ ဧကန်အမှန် ၎င်းတို့သည် ယုံမှား သံသယဖြစ်စေသော ဒွိဟ သံသယ၌ပင် ရှိခဲ့ကြပေသတည်း။

---

➤➤ ကိယာမတ်၏ကြောက်မက်ဖွယ်၊ အံ့သြဖွယ်ဖြစ်ရပ်များကို တွေ့မြင်ကြရသောအခါ အကြောက်ကြီး ကြောက်ကြ ပေမည်၊ လွတ်မြောက်ရန် ကြိုးစားကြပေမည်၊ သို့ရာတွင် ၎င်းတို့သည် အသို့လျှင် ထွက်ပြေး လွတ်မြောက်သွားနိုင် အံ့နည်း၊ နေရာမထ ဖမ်းဆီးခြင်းခံကြရပေမည်။ ထိုအခါ ကာဖိရ်များက "ကျွန်တော်တို့သည် အီမာန်ယုံကြည်ကြပါပြီ"ဟု ပြောဆိုကြပေမည်။ အလာကောင်းသော်လည်း အခါကား နှောင်းချေပြီ ဆိုသကဲ့သို့ ၎င်းတို့၏ ထိုအီမာန်ယုံကြည်မှုသည် မည်သို့မျှ အကျိုးပေးနိုင်တော့မည်မဟုတ်ပေ။ အဘယ်ကြောင့်ဆိုသော် နောင်တမလွန် ဘဝသည် ကျိုးပြစ်ပေးရာဘဝဖြစ်သည်။ ပစ္စက္ခဘဝသည်သာလျှင် အဆိုးအကောင်း ဆည်းပူးရာဘဝဖြစ်သည်။ ပစ္စက္ခဘဝကား ဝေးစွာကျန်ရစ်ခဲ့ပေပြီ။ ပစ္စက္ခဘဝတွင် ပြုလုပ်ရမည့် အလုပ်ကို နောင်တမလွန်ဘဝတွင် ပြုလုပ်လိုခြင်းမှာ မိုးကုန်မှထွန်ချ လိုခြင်းမျိုးသာ ဖြစ်ပေသည်။

## စတင်ဖန်ဆင်းတော်မူသောအရှင်ကဏ္ဍ

## سُوْرَةُ فَاطِر

ဤကဏ္ဍသည် အလ်ဖာတွစ်ရ် စတင်ဖန်ဆင်းတော်မူသောအရှင် အကြောင်း ပါဝင်သော ကဏ္ဍဖြစ်သည်။ မက္ကာမြို့တော်၌ ကျရောက်ခဲ့သည်။
ဤကဏ္ဍတွင် အာယတ်တော်(၄၅)ပါး ရကူအ်အပိုဒ်(၅)ပိုဒ် အသီးသီးပါရှိသည်။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ ○

မပြတ်မစဲ သနားကြင်နာ ညှာတာတော်မူသော
အနန္တကရုဏာတော်ရှင် ဖြစ်တော်မူသော
အလ္လာဟ်အရှင်မြတ်၏ နာမတော်ဖြင့် အစပြုပါ၏။

اَلْحَمْدُ لِلّٰهِ فَاطِرِ السَّمٰوٰتِ
وَالْاَرْضِ جَاعِلِ الْمَلٰٓئِكَةِ
رُسُلًا اُولِيْٓ اَجْنِحَةٍ مَّثْنٰى
وَثُلٰثَ وَرُبٰعَ ۭ يَزِيْدُ فِى الْخَلْقِ
مَا يَشَاۗءُ ۭ اِنَّ اللّٰهَ عَلٰي كُلِّ شَيْءٍ
قَدِيْرٌ ①

၁။ ချီးမွမ်း ထောပနာ အပေါင်းတို့သည် မိုးကောင်းကင်များကိုလည်းကောင်း၊ ပထဝီမြေကိုလည်းကောင်း၊ တီထွင်ဖန်ဆင်းတော်မူသော၊ *အတောင်ပံနှစ်ခုစီ၊ သုံးခုစီ၊ လေးခုစီရှိသော* [၁] “မလာအိကဟ်” *ကောင်းကင်တမန်တို့အား စေတမန်များအဖြစ် ခန့်အပ်တော်မူသော* [၂] အလ္လာဟ်အရှင်မြတ်နှင့်သာ ထိုက်သင့်၏။ ထိုအရှင်မြတ်သည် ဖန်ဆင်းမှု၌ မိမိအလိုရှိတော်မူသည့်အရာကို တိုးပွားများပြား ပိုမိုစေတော်မူ၏။ စင်စစ်အမှန် အလ္လာဟ်အရှင်မြတ်သည် အရာခပ်သိမ်းတို့ကို စွမ်းဆောင်နိုင်တော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

---

(၁) အချို့ကောင်းကင်တမန်များ၌ အတောင်ပံနှစ်ဘက် အချို့၌ အတောင်ပံသုံးဘက်၊ အချို့၌ အတောင်ပံလေးဘက်စီ၊ အသီးသီးရှိပေသည်။ ယင်းအတောင်ပံများသည် မည်သို့မည်ပုံရှိသည်ကို အလ္လာဟ်အရှင်မြတ်သာလျှင် အသိဆုံးဖြစ်တော်မူသည်။ သို့မဟုတ် မြင့်မှုးသော ပုဂ္ဂိုလ်များသည် အနည်းငယ် ပြောပြနိုင်ကြပေမည်။

အလ္လာဟ်အရှင်မြတ်သည် မိမိအလိုရှိတော်မူသော မည်သည့် အဖန်ဆင်းခံ၌မဆို မည်သည့် အင်္ဂါအစိတ်အပိုင်းကိုမဆို၊ မည်သည့်အရည်အသွေး စွမ်းရည်သတ္တိကိုမဆို၊ မည်သည့် လှပမှုကိုမဆို၊ မည်သည့် ကောင်းမြတ်မှုကိုမဆို၊ ပိုမိုဖန်ဆင်းတော်မူနိုင်သည်။ အချို့ကောင်းကင်တမန်များ၌ ရှိသော အတောင်ပံနှစ်ဘက်၊ သုံးဘက်၊ လေးဘက်စီသည်လည်း အလ္လာဟ်အရှင်မြတ်ကပင် ဖန်ဆင်းပေးထားတော်မူခြင်းဖြစ်သည်။ ထိုထက်ပိုမို၍လည်း ဖန်ဆင်းတော်မူနိုင်သည်။ ကောင်းကင်တမန် ဂျစ်ဗ်ရီလ်၌ အတောင်ပံပေါင်း (၆၀၀)ရှိကြောင်း တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)၏ ဟဒီဒ်တော်များတွင် လာရှိပေသည်။

مَا يَفْتَحِ اللَّهُ لِلنَّاسِ مِن رَّحْمَةٍ
فَلَا مُمْسِكَ لَهَا ۖ وَمَا يُمْسِكْ فَلَا
مُرْسِلَ لَهُ مِن بَعْدِهِ ۚ وَهُوَ
الْعَزِيزُ الْحَكِيمُ ﴿٢﴾

၂။ အလ္လာဟ်အရှင်မြတ်က လူတို့အဖို့ ဖွင့်ပေးတော်မူသော ကရုဏာတော်ကို ပိတ်ပင်တားဆီးနိုင်သူဟူ၍ အလျှင်းမရှိချေ။ ထိုနည်းတူစွာ ထိုအရှင်မြတ် ပိတ်ပင်တားဆီးတော်မူသော အရာကိုလည်း ထိုအရှင်မြတ် ပိတ်ပင် တားဆီးတော်မူပြီးနောက် ပို့ပေးနိုင်သောသူဟူ၍ အလျှင်းမရှိပြီ။ [၁] စင်စစ် ထိုအရှင်မြတ်သည်ပင် အလွန်တရာ လွှမ်းမိုးတော်မူသောအရှင်၊ အလွန်တရာ ဆင်ခြင်တုံတရားနှင့် ပြည့်စုံတော်မူသောအရှင် ဖြစ်တော်မူပေသတည်း။

يَا أَيُّهَا النَّاسُ اذْكُرُوا نِعْمَتَ اللَّهِ
عَلَيْكُمْ ۚ هَلْ مِنْ خَالِقٍ غَيْرُ اللَّهِ
يَرْزُقُكُم مِّنَ السَّمَاءِ وَالْأَرْضِ ۚ
لَا إِلَٰهَ إِلَّا هُوَ ۖ فَأَنَّىٰ تُؤْفَكُونَ ﴿٣﴾

၃။ အို-လူခပ်သိမ်းတို့၊ အသင်တို့သည် မိမိတို့အပေါ်၌ အလ္လာဟ်အရှင်မြတ်က ပြုတော်မူခဲ့သော ကျေးဇူးတော်များကို ပြန်လည်အောက်မေ့ သတိရကြလေကုန်။ အလ္လာဟ်အရှင်မြတ်အပြင် အသင်တို့အား မိုးကောင်းကင်မှလည်းကောင်း၊ ပထဝီမြေမှလည်းကောင်း၊ စားနပ်ရိက္ခာပေးသည့် ဖန်ဆင်းသူဟူ၍ တစ်ဦးတစ်ယောက်မျှပင် ရှိပါသေးသလော၊ ထိုအရှင်မြတ်မှတပါး ဆည်းကပ်ကိုးကွယ်ရာအရှင်ဟူ၍ အလျှင်းမရှိပြီ။ သို့ပါလျက် အသင်တို့သည် အဘယ်သို့ ပြန်လှည့်သွားကြလေသနည်း။

---

(၂) အလ္လာဟ်အရှင်မြတ်သည် ကောင်းကင်တမန်များအား အမျိုးမျိုး စေခိုင်းတော်မူသည်။ အချို့ကောင်းကင်တမန်များအား စေတမန်များအဖြစ် ခန့်အပ်ထားတော်မူသည်။ အချို့ကောင်းကင်တမန်များအား ရုပ်လောက နာမ်လောက၏ စီမံခန့်ခွဲမှုများတွင် ခိုင်းစေထားတော်မူသည်။ ကောင်းကင်တမန်များသည် အလ္လာဟ်အရှင်မြတ်၏ အဖန်ဆင်းခံ၊အစေခံ သတ္တဝါများသာ ဖြစ်ကြပေသည်။ ကောင်းကင်တမန်များအကြောင်း ကုရ်အာန် (၂း၃၀)တွင် အကျယ်ရေးသားခဲ့ပေပြီ။

(၁) အလ္လာဟ်အရှင်မြတ်သည် အနန္တတန်ခိုးတော်ရှင် ဖြစ်တော်မူသည်။ အရာခပ်သိမ်းကုန်တို့ကို လွှမ်းမိုးတော်မူသည်။ အရာရာကို ဆင်ခြင်တုံတရားနှင့် စီမံဖန်ဆင်းတော်မူသည်။ ဤအာယတ်တော်တွင် ပါရှိသော 'ရဟ်မတ်' ကရုဏာတော်သည် ရုပ်နှင့်လည်းဆိုင်သည်။ မိုးရေ၊ စားနပ်ရိက္ခာ စသည်များကိုလည်း ဆိုနိုင်သည်။ နာမ်နှင့်ဆိုင်သည့် ကျမ်းဂန်များချပေးမှု၊ တမန်တော်များအား စေလွှတ်မှုများကိုလည်း ဆိုနိုင်သည်။ အသို့ပင်ရှိစေ၊ အလ္လာဟ်အရှင်မြတ်သည် မိမိ၏ ကရုဏာတော်တည်းဟူသော တံခါးကို ဖွင့်ပေးတော်မူပါက မည်သူမျှ ➤➤

وَإِن يُكَذِّبُوكَ فَقَدْ كُذِّبَتْ رُسُلٌ مِّن قَبْلِكَ ۚ وَإِلَى اللَّهِ تُرْجَعُ الْأُمُورُ ④

၄။ (အို-နဗီတမန်တော်) အကယ်၍ ၎င်းတို့သည် အသင့်အား မုသာဝါဒီဟု စွပ်စွဲငြင်းပယ်ကြပါလျှင် (အသင်သည် စိတ်ငြိုငြင်မှုမရှိပါလေနှင့်၊) ကေန်အမှန် အသင့်အလျင် ရှေးရစူလ်တမန်တော်များသည်လည်း မုသာဝါဒီများဟူ၍ စွပ်စွဲငြင်းပယ်ခြင်း ခံခဲ့ကြရလေ၏။ အမှန်သော်ကား အရေးကိစ္စ အလုံးစုံတို့မှာ အလ္လာဟ် အရှင်မြတ်ထံတော်သို့သာလျှင် ပြန်လည် ရောက်ကြရပေမည်။

يَا أَيُّهَا النَّاسُ إِنَّ وَعْدَ اللَّهِ حَقٌّ ۖ فَلَا تَغُرَّنَّكُمُ الْحَيَاةُ الدُّنْيَا ۖ وَلَا يَغُرَّنَّكُم بِاللَّهِ الْغَرُورُ ⑤

၅။ အို-လူအပေါင်းတို့၊ ကေန်မလွဲ အလ္လာဟ် အရှင်မြတ်ထားရှိတော်မူသောကတိသည် မှန်ကန်၏။ သို့ဖြစ်ပေရာ လောကီဘဝ၌ အသက်ရှင်ခြင်းသည်လည်း အသင်တို့အား လှည့်ဖြားခြင်းမပြုစေရ၊ လှည့်စားသူ "ရှိုင်တွာန်"(မိစ္ဆာကောင်)သည်လည်း အသင်တို့အား အလ္လာဟ်အရှင်မြတ်နှင့် ပတ်သက်၍ လှည့်ဖြားခြင်း မပြုစေရ။

إِنَّ الشَّيْطَانَ لَكُمْ عَدُوٌّ فَاتَّخِذُوهُ عَدُوًّا ۚ إِنَّمَا يَدْعُو حِزْبَهُ لِيَكُونُوا مِنْ أَصْحَابِ السَّعِيرِ ⑥

၆။ မလွဲကေန် 'ရှိုင်တွာန်' မိစ္ဆာကောင်သည် အသင် တို့၏ ရန်သူပင်ဖြစ်၏။ သို့ဖြစ်ပေရာ အသင်တို့ သည် ထို 'ရှိုင်တွာန်' မိစ္ဆာကောင်အား (မိမိတို့၏) ရန်သူဟူ၍ပင် အသိအမှတ်ပြုကြလေကုန်။ (စင်စစ် သော်ကား) ထို 'ရှိုင်တွာန်' မိစ္ဆာကောင်သည် မိမိ ဘက်သားများအား (ငရဲဘုံ၏) မီးတောက်မီးလျှံ၌ လားကြရသူတို့တွင် အပါအဝင် ဖြစ်ကြစေရန်သာလျှင် ဖိတ်ခေါ်လေသတည်း။

---

➤➤ ပြန်လည်ပိတ်နိုင်သည်မရှိ၊ ထိုအရှင်မြတ် ပိတ်လိုက်တော်မူပါက မည်သူမျှ ပြန်လည်ဖွင့်နိုင်သည်မရှိ၊ အလ္လာဟ်အရှင်မြတ်၏ တန်ခိုးတော်ကား ကြီးမားလှပါဘိတကား။ ဤသည့်သဘောကို ကုရ်အာန် (၆:၁၇) တွင်လည်း မိန့်ဆိုထားတော်မူသည်။

اَلَّذِيْنَ كَفَرُوْا لَهُمْ عَذَابٌ شَدِيْدٌ ۚ وَالَّذِيْنَ اٰمَنُوْا وَعَمِلُوا الصّٰلِحٰتِ لَهُمْ مَّغْفِرَةٌ وَّاَجْرٌ كَبِيْرٌ ۝٧

၇။ 'ကာဖိရ်' သွေဖည်ငြင်းပယ်ကြကုန်သောသူတို့၌ ပြင်းထန်စွာသောပြစ်ဒဏ်သည် ရှိချေသည်။ သို့ရာတွင် 'အီမာန်' သက်ဝင်ယုံကြည်၍ ကောင်းမြတ်သော အကျင့်သီလများကို ကျင့်မှုဆောက်တည်ကြကုန်သော သူတို့အဖို့မှာမူကား လွတ်ငြိမ်းချမ်းသာခွင့်သည်လည်းကောင်း၊ ကြီးကျယ်လှစွာသော အကျိုးကျေးဇူးသည်လည်းကောင်း၊ ရှိပေသည်။

اَفَمَنْ زُيِّنَ لَهٗ سُوْٓءُ عَمَلِهٖ فَرَاٰهُ حَسَنًا ۗ فَاِنَّ اللّٰهَ يُضِلُّ مَنْ يَّشَآءُ وَيَهْدِيْ مَنْ يَّشَآءُ ۖ فَلَا تَذْهَبْ نَفْسُكَ عَلَيْهِمْ حَسَرٰتٍ ۗ اِنَّ اللّٰهَ عَلِيْمٌ ۢ بِمَا يَصْنَعُوْنَ ۝٨

၈။ သို့ဖြစ်ပေရာ အသို့ပါနည်း။ မိမိ၏ မကောင်းမှုများသည် မိမိအမြင်တွင် လှပတင့်တယ်အောင် ပြုလုပ်ခြင်းခံရသောကြောင့် ယင်းမကောင်းသောကျင့်မှုများကို အကောင်းဟူ၍ ထင်မြင်လာသောသူသည် အမှားကို အမှန်ဟု ထင်မြင်သောသူနှင့်တူလေသည်။ စင်စစ်မှာကား ဧကန်အမှန် အလ္လာဟ်အရှင်မြတ်သည် မိမိအလိုရှိတော်မူသောသူအား လမ်းမှား၌ ထားတော်မူ၏။ ထိုနည်းတူစွာ မိမိအလိုရှိတော်မူသောသူအား တရားလမ်းမှန်ကို ပြတော်မူ၏။ သို့ဖြစ်ပေရာ (အို-နဗီတမန်တော်) အသင်၏ အသက်ဇီဝိန်သည် ၎င်းတို့နှင့် ပတ်သက်၍ ဆွေးကာတွေးကာ မဆုံးပါးစေရ။ ဧကန်မလွဲ အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့ပြုမူသမျှတို့ကို ကောင်းစွာသိရှိတော်မူသော အရှင်မြတ်ပင်ဖြစ်တော်မူပေသတည်း။ ၁

---

① **အမြင်မှန်သူနှင့် အမြင်မှားသူ၊**

အကြင်သူတစ်ဦးသည် ရှိုင်တွာန်၏ သွေးဆောင်ဖြားယောင်းမှုကြောင့် မိမိ၏မကောင်းမှုကိုပင် အကောင်းဟူ၍ ထင်မြင်နေ၏။ အမြင်မှားနေ၏။ အခြားတစ်ဦးမှာ အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်ဖြင့် အကောင်းနှင့်အဆိုးကို ခွဲခြားသိမြင်၏။ အကောင်းကို အကောင်းဟူ၍ပင်မြင်၏။ အဆိုးကို အဆိုးဟူ၍ပင်မြင်၏။ အမြင်မှန်၏။ ထိုသူနှစ်ဦးသည် အသို့လျှင် တူနိုင်ကြအံ့နည်း။ ထိုသူနှစ်ဦးသည် အချင်းချင်း အမြင်မတူကြလျှင် ၎င်းတို့၏အကျိုးဆက်မှာ- အသို့လျှင် တူညီနိုင်အံ့နည်း၊ အလျှင်းမတူနိုင်။

အလ္လာဟ်အရှင်မြတ်သည် အကြင်သူတစ်ဦးအား ၎င်း၏ ကောင်းမြတ်သော အရည်အချင်း၊ သင့်မြတ်သော ဆည်းပူးမှုများကြောင့် တရားလမ်းမှန်ကို ပြတော်မူပါလျှင်၊ ထိုသို့သောသူအား မည်သည့်ရှိုင်တွာန်ကမျှ ➤➤

وَاللَّهُ الَّذِي أَرْسَلَ الرِّيَاحَ فَتُثِيرُ
سَحَابًا فَسُقْنَاهُ إِلَىٰ بَلَدٍ مَّيِّتٍ
فَأَحْيَيْنَا بِهِ الْأَرْضَ بَعْدَ
مَوْتِهَا ۚ كَذَٰلِكَ النُّشُورُ ﴿٩﴾

၉။ စင်စစ် အလ္လာဟ်အရှင်မြတ်သည်ပင် လေများကို စေလွှတ်တော်မူသော အရှင်မြတ်ဖြစ်တော်မူ၏။ ထို့နောက် ယင်းလေများသည် မိုးတိမ်များကို သယ်ဆောင်၍ သွားကြလေ၏။ ထို့နောက် ငါအရှင်မြတ်သည် ယင်းမိုးတိမ်များကို (သွေ့ခြောက်) သေလျက်ရှိသော နယ်မြေဒေသများသို့ မောင်းနှင်တော်မူ၏။ ထို့နောက် ငါအရှင်မြတ်သည် ထို(မိုးတိမ်များမှရွာသွန်းသော)ရေဖြင့် (သွေ့ခြောက်)သေနေသောမြေကို ပြန်လည် စိမ်းလန်းစိုပြည်စေတော်မူ၏။ ရှင်ပြန်ထခြင်းသည်လည်း ဤနည်းအတိုင်းပင် ဖြစ်ချေသည်။

مَن كَانَ يُرِيدُ الْعِزَّةَ فَلِلَّهِ الْعِزَّةُ
جَمِيعًا ۚ إِلَيْهِ يَصْعَدُ الْكَلِمُ الطَّيِّبُ
وَالْعَمَلُ الصَّالِحُ يَرْفَعُهُ ۚ
وَالَّذِينَ يَمْكُرُونَ السَّيِّئَاتِ

၁၀။ မည်သူမဆို ဂုဏ်အသရေကို အလိုရှိလျှင် (အလ္လာဟ်အရှင်မြတ်ထံတော်၌ သာလျှင် လျှောက်ထားရပေမည်။) အကြောင်းမူကား အလုံးစုံသော ဂုဏ်အသရေတို့မှာ အလ္လာဟ်အရှင်မြတ်၌သာ ရှိသောကြောင့်ပင်။ စင်ကြယ်သန့်ပြန်သောစကားရပ်များသည် ထိုအရှင်မြတ်အထံတော်သို့ပင် တက်သွားကြပေသည်။

➤➤ သွေးမဆောင်နိုင်၊ မဖြားယောင်းနိုင်၊ လွဲမှားယိမ်းပါးစေရန် အလျှင်းမပြုနိုင်။ သို့ရာတွင် အကြင်သူတစ်ဦးသည် ရှိုင်တွာန်၏ သွေးဆောင်ဖြားယောင်းမှုကြောင့် အဆိုးကိုအကောင်း၊ အမှားကိုအမှန်၊ အဆိပ်ကိုအဟာရဟူ၍ ထင်မှတ်နေပါလျှင်၊ ထိုသို့သောသူသည် အမှန်တရားကို အသို့လျှင် မြင်နိုင်တော့အံ့နည်း။

ထိုသို့သောသူများသည် အမှန်တရားကို မကြားလိုကြ၊ မမြင်လိုကြ၊ သို့ဖြစ်ရာ ဤရွှေ့ဤမျှ မှောက်မှားနေကြသူများ အမှန်တရားနှင့် ကင်းကွာနေကြသူများအတွက် တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် ဆွေးကာတွေးကာ၊ တွေးကာဆွေးကာ၊ စိတ်ဒုက္ခဖြစ်နေရန် မလိုပေ။ ၎င်းတို့၏အရေးကို အလ္လာဟ်အရှင်မြတ်ထံသို့သာ လွှဲထားရမည်သာ။ ထိုအရှင်မြတ်သည် ၎င်းတို့အကြောင်း၊ ကောင်းစွာ သိတော်မူသည်ဖြစ်ရာ၊ ထိုက်သည့်အားလျော်စွာ စီရင်တော်မူမည်သာ။

ဤသည်ကို ထောက်ရှုခြင်းအားဖြင့် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် လူသားတို့ တရားရရှိရေးကို သူမတူအောင် အတိုင်းထက်အလွန် လိုလားတော် မူခဲ့သည့်မှာ ထင်ရှားလှပေသည်။

[ကြည့်-ကုရ်အာန် (၂၆း၃)]

لَهُمْ عَذَابٌ شَدِيدٌ ۖ وَمَكْرُ أُولَٰئِكَ هُوَ يَبُورُ ⑩

၎င်းပြင် ကောင်းမြတ်သော အကျင့်သီလဟူသည် ထိုစင်ကြယ်သန့်ပြန့်သော *စကားများကို ပင့်မြှောက်ပို့ဆောင်၍ ပေးလေသည်။* [၁] သို့ရာတွင် မကောင်းသော အကြံအစည်များကို ကြံစည်သော သူတို့၌မူကား ပြင်းထန်စွာသော ပြစ်ဒဏ်သည် ရှိပေမည်။ ထိုမှတပါး ၎င်းတို့၏ *အကြံအစည်တို့မှာလည်း ပျက်ပြား၍ သွားကြပေမည်။* [၂]

وَاللَّهُ خَلَقَكُم مِّن تُرَابٍ ثُمَّ مِن نُّطْفَةٍ ثُمَّ جَعَلَكُمْ أَزْوَاجًا ۚ وَمَا تَحْمِلُ مِنْ أُنثَىٰ

**၁၁။** စင်စစ်သော်ကား အလ္လာဟ်အရှင်မြတ်သည် အသင်တို့အား မြေကြီးဖြင့် ဖန်ဆင်းတော်မူခဲ့၏။ ထို့နောက် ကလလရေကြည်ဖြင့်(ဖန်ဆင်းတော်မူခဲ့၏)။ ထို့နောက် ထိုအရှင်မြတ်သည် အသင်တို့အား စုံတွဲများ ပြုလုပ်တော်မူခဲ့၏။

---

① <u>ဂုဏ်သိမ် မည်သို့ ရယူရသနည်း၊</u>

"ကောင်းမြတ်သောစကား" ဟူသည် အလ္လာဟ်အရှင်မြတ်အား အောက်မေ့တသ သတိရခြင်း၊ ထိုအရှင်မြတ်ထံတော်၌ ဆုပန်ကြားခြင်း၊ ကုရ်အာန်ကျမ်းမြတ်ကို ရွတ်ဖတ်သရဇ္ဈာယ်ခြင်း၊ သွန်သင်ဆုံးမ ဩဝါဒပေးခြင်းများကို ဆိုလိုသည်။ ဤသည့်ကောင်းမြတ်သော စကားများသာလျှင် အလ္လာဟ်အရှင်မြတ်၏ အထံတော်သို့ တက်ရောက်ကြသည်။ ထိုအရှင်မြတ်ထံတော်မှ လက်ခံသဘောတူတော်မူခြင်း၊ အလေးထားခြင်း၊ ဂရုပြုတော်မူခြင်း တည်းဟူသော ဂုဏ်သိန်ကိုရယူကြသည်။

ကောင်းမြတ်သော စကားများသည် မူလဗီဇသဘာဝအလျောက် အလ္လာဟ်အရှင်မြတ် ထံတော်ပါးသို့တက်ကြသည်။ အကယ်၍ ကောင်းမြတ်သော စကားနှင့်အတူ ကောင်းမြတ်သော အကျင့်သီလရှိပါက ထိုကောင်းမြတ်သော အကျင့်သီလသည် ထိုသည့် ကောင်းမြတ်သောစကားကို ပို၍ပင် မ,တင်ပေးလေသည်။ အလ္လာဟ့်ထံတော်ပါးသို့ တက်ရာတွင် အထောက်အကူ ဖြစ်စေသည်။ ဤသည်ကို ထောက်ရှုခြင်းအားဖြင့် ကောင်းမြတ်သောစကားနှင့် ကောင်းမြတ်သော အကျင့်သီလသည် အဘယ်မျှ အရေးကြီးကြောင်း၊ ကောင်းစွာ သိရှိနိုင်ပေသည်။ သို့ဖြစ်ရာ မည်သူမဆို အလ္လာဟ်အရှင်မြတ် ထံတော်ပါးမှ ဂုဏ်သိန်အလိုရှိက ကောင်းမြတ်သော စကားများကိုဆို၍ ကောင်းမြတ်သော အကျင့်သီလများကို ဆည်းပူးရမည်သာတည်း။

② အမှန်တရားကို ဆန့်ကျင်ရန် ကြံစည်အားထုတ်သူများသည် နောက်ဆုံးတွင် ၎င်းတို့ကိုယ်တိုင် ပျက်ဆီး ဆိတ်သုဉ်း သွားကြသည်သာဖြစ်သည်။ ကုရိုက်ရှ်မျိုးနွယ်ဝင်များသည် အစ္စလာမ်ကို ချေမှုန်းနိုင်ရန်အတွက် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)အား ဖမ်းချုပ်ချည်နှောင်ထားရန်၊ ပြည်နှင်ဒဏ်ပေးရန်၊ သတ်ဖြတ်ရန် အမျိုးမျိုး ကြံစည်ခဲ့ကြ၏။ သို့ရာတွင် နောက်ဆုံး၌ 'ဗဒ်ရ်' စစ်ပွဲဖြစ်ပွားသည့်အခါ ၎င်းတို့ ကိုယ်တိုင်ပင် အရပ်တစ်ပါးသို့ ထွက်ခွာသွားခဲ့ကြရ၏။ မှစ်လင်မ်တို့၏လက်ချက်ဖြင့် သတ်ဖြတ်ခြင်း ➤➤

وَلَا تَضَعُ إِلَّا بِعِلْمِهِۦ ۚ وَمَا يُعَمَّرُ مِن مُّعَمَّرٍ وَلَا يُنقَصُ مِنْ عُمُرِهِۦٓ إِلَّا فِى كِتَٰبٍ ۚ إِنَّ ذَٰلِكَ عَلَى ٱللَّهِ يَسِيرٌ ⑪

စင်စစ် မည်သည့် မိန်းမတစ်ဦး တစ်ယောက်မျှပင် ထိုအရှင်မြတ်မသိတော်မူပဲ ကိုယ်ဝန်ဆောင်ခြင်းလည်းမရှိ၊ သားဖွားခြင်းလည်းမရှိပေ။ ထိုနည်းတူစွာ မည်သည့်အသက်ရှည်သောသူ တစ်ဦးတစ်ယောက်၏ အသက်ကိုမျှ ပို၍သတ်မှတ်သည်လည်းမရှိ။ မည်သူတဦးတယောက်၏ အသက်ကိုမျှလျော့၍ သတ်မှတ်သည်လည်းမရှိ။ သို့ရာတွင် ဤသည် ထိုသည့် မှတ်တမ်းတော်၌ ရေးမှတ်ပြီး ဖြစ်သည်။ ဧကန်မလွဲ ဤသည်ကား အလ္လာဟ်အရှင်မြတ်၌ လွန်စွာ လွယ်ကူလှပေသတည်း။ ①

وَمَا يَسْتَوِى ٱلْبَحْرَانِ هَٰذَا عَذْبٌ فُرَاتٌ سَآئِغٌ شَرَابُهُۥ وَهَٰذَا مِلْحٌ أُجَاجٌ ۖ وَمِن كُلٍّ تَأْكُلُونَ لَحْمًا طَرِيًّا وَتَسْتَخْرِجُونَ حِلْيَةً تَلْبَسُونَهَا ۖ وَتَرَى ٱلْفُلْكَ فِيهِ مَوَاخِرَ لِتَبْتَغُوا۟ مِن

၁၂။ ၎င်းပြင် သမုဒ္ဒရာပင်လယ်နှစ်ခုသည် မတူကြပေ။ ဤ(ပင်လယ်တစ်ခု၏) ရေမှာ ချိုမြိန်၏။ ရေငတ်ပြေစေ၏။ ထိုရေကို သောက်သုံးရာ၌လည်း လွယ်ကူ၍ အဝင်ကောင်းလှ၏။ သို့ရာတွင် ဤ(ပင်လယ်တစ်ခု၏ ရေ)မှာမူကား ငံ၏။ ခါး၏။ သို့ရာတွင် အသင်တို့သည် (ထိုပင်လယ်)အသီးသီးမှ လတ်ဆတ်သော အသား၊(ဝါ) ငါးများကို စားသုံးကြကုန်၏။ ၎င်းပြင် အသင်တို့သည် (ထိုပင်လယ်များမှ) မိမိတို့ဝတ်ဆင်ကြကုန်သော လက်ဝတ်လက်စား တန်ဆာများကို ထုတ်ယူကြကုန်၏။

---

➤➤ ခံခဲ့ကြရ၏၊ ရေတွင်းတစ်ခုတည်းတွင် အစုလိုက်အပြုံလိုက် အမြှုပ်ခံခဲ့ကြရ၏။ ဤကား အမှန်တရားကို ဆန့်ကျင်ရန် ကြံစည်သူများ ဤပစ္စက္ခမျက်မှောက်ဘဝတွင် ခံစားကြရသည့်ဆိုးကျိုးသာ၊ နောင်တမလွန်ဘဝတွင် ခံစားကြရမည့် ပြစ်ဒဏ်ကား ထို့ထက်ပင် အတိုင်းမသိ ပိုမိုဆိုးရွားလှပေမည်။

① မည်သူမည်ဝါ၏ ဇင်ဒဂီသက်တမ်းသည် မည်မျှ မည်မျှဖြစ်သည်ကို အလ္လာဟ်အရှင်မြတ်၏ "လောင်ဟ်ဝ်ဟ် မဟ်ဖူဇ်" မှတ်တမ်းတော်တွင် အတိအကျ ရေးမှတ်ထားပြီး ဖြစ်သည်။ ထိုအရှင်မြတ်သည် သက်တမ်းရှည်ခြင်း၊ သက်တမ်းတိုခြင်း၏ အကြောင်းများကို သိတော်မူသည်။ မည်သူမည်ဝါသည် သတ်မှတ်ထားပြီးဖြစ်သည့် သက်တမ်းသို့ ရောက်မည်မရောက်မည်ကိုလည်း အတိအကျသိတော်မူသည်။ ဆိုလိုသည်ကား အလ္လာဟ်အရှင်မြတ်သည် စကြာဝဠာစပ်သိမ်း၌ ဖြစ်ပျက်သမျှတို့ကို ခရေစေ့တွင်းကျ အသေးစိတ် သိမြင်တော်မူသည်ဟူ၏။

فَضْلِهِ وَلَعَلَّكُمْ تَشْكُرُونَ ⑫

ထိုမှတပါး အသင်တို့သည် ထိုအရှင်မြတ်၏ ကျေးဇူးတော်တည်းဟူသော စားနပ်ရိက္ခာကို ရှာဖွေဆည်းပူးကြအံ့သောငှာ ထိုပင်လယ်၌ သင်္ဘောများ ရေကိုခွဲ၍ သွားလာလျက် ရှိကြသည်ကိုလည်း အသင်သည် တွေ့မြင်ရပေမည်။ သို့မှာသာလျှင် အသင်တို့သည် ကျေးဇူးတော်ကို သိတတ်ကြအံ့သတည်း။

يُولِجُ الَّيْلَ فِي النَّهَارِ وَيُولِجُ
النَّهَارَ فِي الَّيْلِ وَسَخَّرَ
الشَّمْسَ وَالْقَمَرَ كُلٌّ
يَجْرِي لِأَجَلٍ مُّسَمًّى
ذَٰلِكُمُ اللَّهُ رَبُّكُمْ لَهُ الْمُلْكُ
وَالَّذِينَ تَدْعُونَ مِنْ
دُونِهِ مَا يَمْلِكُونَ مِنْ
قِطْمِيرٍ ⑬

၁၃။ ထိုအရှင်မြတ်သည် (အချို့သောရာသီဥတု၌) ညဉ့်၏(အစိတ်အပိုင်းအချို့ကို) နေ့၏အတွင်းသို့ ဝင်စေတော်မူ၍ (အချို့သောရာသီဥတု၌မူ) နေ့၏ (အချို့သော အစိတ်အပိုင်း)ကို ညဉ့်၏အတွင်းသို့ ဝင်စေတော်မူ၏။ ထိုမှတပါး ထိုအရှင်မြတ်သည် "သူရိယ" နေကိုလည်းကောင်း၊ လ 'စန္ဒာ' ကိုလည်းကောင်း၊ ပိုင်နိုင်စွာ ခိုင်းစေထားတော်မူရာ/အကျိုးပြုထားစေတော်မူရာ (ယင်း 'သူရိယ' နေနှင့် လ 'စန္ဒာ') အသီးသီးတို့မှာ သတ်မှတ်ပြဋ္ဌာန်းထားသော အချိန်ကာလတိုင်အောင် လှုပ်ရှားသွားလာလျက်ပင် ရှိကြပေသည်။

ဤသည် အသင်တို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်ပင်ဖြစ်တော်မူ၏။ စိုးမိုးအုပ်ချုပ်မှု အာဏာသည် ထိုအရှင်မြတ်၌သာရှိ၏။ သို့ရာတွင် ထိုအရှင်မြတ်အား စွန့်၍ အသင်တို့ ဟစ်ခေါ်တသလျက် ရှိကြကုန်သော သူတို့မှာမူကား စွန်ပလွံစေ့၌ ကပ်လျက်ရှိသော အမြှေးခန့်မျှပင် ပိုင်ဆိုင်ကြသည် မဟုတ်ပေ။

إِنْ تَدْعُوهُمْ لَا يَسْمَعُوا
دُعَاءَكُمْ وَلَوْ سَمِعُوا مَا

၁၄။ အသင်တို့သည် အကယ်၍ ၎င်းတို့အား ဟစ်ခေါ်ကြပါလျှင် ၎င်းတို့သည် ကြားကြမည် မဟုတ်ပေ။ သို့ရာတွင် အကယ်၍ ကြားခဲ့ကြငြားသော်လည်း အသင်တို့အား ပြန်၍ထူးကြမည် မဟုတ်ပေ။

اسْتَجَابُوا لَكُمْ ۖ وَيَوْمَ الْقِيَامَةِ يَكْفُرُونَ بِشِرْكِكُمْ ۚ وَلَا يُنَبِّئُكَ مِثْلُ خَبِيرٍ ﴿١٤﴾

(ပြုလုပ်ဖြည့်စွမ်းပေးနိုင်ကြမည်မဟုတ်ပေ)။ ထိုမှတပါး "ကိယာမတ်" ရှင်ပြန်ထမည့်နေ့တွင်မူ ၎င်းတို့သည် အသင်တို့၏ တွဲဖက်ကိုးကွယ်မှုကိုပင် ငြင်းပယ်ကြပေမည်။ စင်စစ်သော်ကား အရာခပ်သိမ်းတို့ကို အကြွင်းမဲ့ ကြားသိတော်မူသော အရှင်ကဲ့သို့ မည်သူတစ်ဦး တစ်ယောက်မျှပင် အသင့်အား ထုတ်ဖော်၍ ပြောကြားမည် မဟုတ်ပြီ။

يَا أَيُّهَا النَّاسُ أَنْتُمُ الْفُقَرَاءُ إِلَى اللَّهِ ۖ وَاللَّهُ هُوَ الْغَنِيُّ الْحَمِيدُ ﴿١٥﴾

၁၅။ အို–လူအပေါင်းတို့၊ အသင်တို့သည်(သာလျှင်) (မိမိတို့၏ကိစ္စအရပ်ရပ်တွင်) အလ္လာဟ်အရှင်မြတ်အား လိုလား တောင့်တကြရသူများပင် ဖြစ်ကြကုန်၏။ သို့ရာတွင် အလ္လာဟ်အရှင်မြတ်မှာမူကား လိုလားတောင့်တခြင်း လုံး၀ ကင်းမဲ့သောအရှင်၊ ချီးမွမ်းအပ်သော "ဝိသေသ" ဂုဏ်ထူးနှင့် ပြည့်စုံတော်မူသော အရှင် ဖြစ်တော်မူ၏။

إِنْ يَشَأْ يُذْهِبْكُمْ وَيَأْتِ بِخَلْقٍ جَدِيدٍ ﴿١٦﴾

၁၆။ အကယ်၍ ထိုအရှင်မြတ်သည် အလိုရှိတော်မူပါလျှင် အသင်တို့အား ပယ်ရှားတော်မူ၍ အဖန်ဆင်းခံအသစ်ကို ယူလာတော်မူနိုင်၏။

وَمَا ذَٰلِكَ عَلَى اللَّهِ بِعَزِيزٍ ﴿١٧﴾

၁၇။ စင်စစ်သော်ကား ဤသည် အလ္လာဟ်အရှင်မြတ်၌ (လုံး၀) ခဲယဉ်းသည် မဟုတ်ပြီ။ [၁]

---

(၁) အလ္လာဟ်အရှင်မြတ် အလိုတော်ရှိပါက သင်တို့အား ဖယ်ရှား၍ အသင်တို့နေရာ၌ အခြားအဖန်ဆင်းခံ အသစ်များကို ဖန်ဆင်းတော်မူနိုင်ပေသည်။ ထိုအဖန်ဆင်းခံ အသစ်များသည် ထိုအရှင်မြတ်၏ အမိန့်တော်များကို ကောင်းကင်တမန်များပမာ မြေ၀ယ်မကျနာခံကြပေမည်။ ဤသို့ပြုလုပ်ရန် အလ္လာဟ်အရှင်မြတ်၌ မည်သို့မျှ အခက်အခဲမရှိ၊ သို့ရာတွင် ထိုအရှင်မြတ်သည် ဤစကြာ၀ဠာ၌ အဆိုးအကောင်းအားလုံးတို့အား နေထိုင်ခွင့်ပြုထားတော်မူခြင်းမှာ ကောင်းသူများ ကောင်းကျိုးစံ၍ မကောင်းသူများ ဆိုးကျိုးခံရန်ပင်ဖြစ်သည်။ ဤသို့ဖြင့် အလ္လာဟ်အရှင်မြတ်၏ ဂုဏ်တော်များသည် ထင်ရှားလာပေသည်။ [ကြည့်–ကုရ်အာန်(၅:၅၄)]

وَ لَا تَزِرُ وَازِرَةٌ وِّزْرَ اُخْرٰی ؕ وَاِنْ تَدْعُ مُثْقَلَةٌ اِلٰی حِمْلِهَا لَا یُحْمَلْ مِنْهُ شَیْءٌ وَّلَوْ کَانَ ذَا قُرْبٰی ؕ اِنَّمَا تُنْذِرُ الَّذِیْنَ یَخْشَوْنَ رَبَّهُمْ بِالْغَیْبِ وَ اَقَامُوا الصَّلٰوةَ ؕ وَمَنْ تَزَکّٰی فَاِنَّمَا یَتَزَکّٰی لِنَفْسِهٖ ؕ وَاِلَی اللّٰهِ الْمَصِیْرُ ⑱

၁၈။ အမှန်စင်စစ်သော်ကား မည်သည့် ဝန်ထုပ်ထမ်းသောသူ (အပြစ်ရှိနေသူ) တစ်စုံတစ်ယောက်မျှပင် သူတပါး၏ ဝန်ထုပ်ကိုသယ်ပိုး ထမ်းဆောင်မည်မဟုတ်ပေ။ ၎င်းပြင် အကယ်၍ ဝန်ထုပ်ကို ထမ်းဆောင်သယ်ပိုးလျက်ရှိသူ တစ်ဦးတစ်ယောက်သည် တစ်စုံတစ်ယောက်အား မိမိဝန်ထုပ်ကို သယ်ပိုး ထမ်းဆောင်ခြင်း၌ ဟစ်ခေါ်ကြားသော်လည်း ထိုဟစ်ခေါ်ခြင်းခံရသောသူသည် ၎င်း၏ ဆွေရင်းသားရင်း ဖြစ်ခဲ့သည့်တိုင်အောင် ထိုဝန်ထုပ်မှ အနည်းငယ် စိုးစဉ်းကိုမျှပင် သယ်ပိုးထမ်းဆောင်မည် မဟုတ်ပေ။

(အို-နဗီတမန်တော်၊) အသင်သည် မိမိတို့၏ အရှင်မြတ်အား မမြင်ဘဲလျက် ကြောက်ရွံ့ကြကုန်သော၊ "ဆွာလာတ်" ဝတ်ပြုမှုကို ဆောက်တည်ကြကုန်သောသူတို့အားသာလျှင် သတိပေး နှိုးဆော်နိုင်ပေသည်။ အမှန်သော်ကား မည်သူမဆို စင်ကြယ်သန့်ရှင်းခဲ့ပါမူ ထိုသူသည် မိမိအကျိုးငှာ စင်ကြယ်သန့်ရှင်းခဲ့သည်သာဖြစ်၏။ ထိုမှတပါး အလ္လာဟ်အရှင်မြတ်အထံတော်သို့သာလျှင် နောက်ဆုံး ပြန်ကြရကုန်အံ့သတည်း။

وَمَا یَسْتَوِی الْاَعْمٰی وَالْبَصِیْرُ ⑲

၁၉။ ၎င်းပြင် မျက်စိကန်းသူနှင့် မျက်စိမြင်သောသူသည် မတူပေ။

وَلَا الظُّلُمٰتُ وَلَا النُّوْرُ ⑳

၂၀။ ထိုနည်းတူစွာ အမှောင်ထုနှင့် အလင်းရောင်သည်လည်း မတူပေ။

وَلَا الظِّلُّ وَلَا الْحَرُوْرُ ㉑

၂၁။ ထို့ပြင် အရိပ်အာဝါသနှင့် နေ၏ အပူရှိန်သည်လည်း မတူပေ။

وَمَا يَسْتَوِي الْأَحْيَاءُ وَلَا الْأَمْوَاتُ ۚ إِنَّ اللَّهَ يُسْمِعُ مَنْ يَشَاءُ ۖ وَمَا أَنْتَ بِمُسْمِعٍ مَنْ فِي الْقُبُورِ ﴿٢٢﴾

၂၂။ ထိုမှတပါး *အသက်ရှင်သူများနှင့် သေသူများသည်လည်း မတူကြချေ။*[၁] ဧကန်စင်စစ် အလ္လာဟ် အရှင်မြတ်သည် မိမိအလိုရှိတော်မူသောသူအား ကြားစေတော်မူ၏။ သို့ရာတွင် အသင်သည် သင်္ချိုင်းများတွင် ရှိသူတို့အား ကြားစေနိုင်သည် မဟုတ်ပေ။[၂]

إِنْ أَنْتَ إِلَّا نَذِيرٌ ﴿٢٣﴾

၂၃။ အသင်သည် သတိပေးနှိုးဆော်သူ တစ်ဦးမျှသာ ဖြစ်၏။

إِنَّا أَرْسَلْنَاكَ بِالْحَقِّ بَشِيرًا وَنَذِيرًا ۚ وَإِنْ مِنْ أُمَّةٍ إِلَّا خَلَا فِيهَا نَذِيرٌ ﴿٢٤﴾

၂၄။ ဧကန်မလွဲ ငါအရှင်မြတ်သည် အသင့်အား အမှန်တရားနှင့်တကွ ဝမ်းမြောက်ဖွယ် သတင်းပြောကြားသူအဖြစ်လည်းကောင်း၊ သတိပေးနှိုးဆော်သူအဖြစ်လည်းကောင်း၊ စေလွှတ်တော်မူခဲ့၏။ စင်စစ်သော်ကား သာသနာဝင်အုပ်စုတိုင်း၌ပင် သတိပေးနှိုးဆော်သူတစ်ဦး ပွင့်ရောက်ခဲ့သည်သာ ဖြစ်၏။

---

① "မျက်ကန်းနှင့် မျက်စိမြင်သူမတူ" (ဝါ) ကာဖိရ်နှင့် မုအ်မင်န်မတူ၊ "အမှောင်နှင့်အလင်းမတူ" (ဝါ) အမှားနှင့်အမှန်မတူ၊ "အရိပ်နှင့် နေပူမတူ" (ဝါ) ကောင်းကျိုးနှင့် ဆိုးကျိုးမတူ၊ အသက်ရှင်သူနှင့် သေသူမတူ (ဝါ) မုအ်မင်န်နှင့်ကာဖိရ် မတူ၊ တနည်း ပညာရှိသူနှင့် ပညာမဲ့သူမတူ၊

ဆိုလိုသည်ကား မုအ်မင်န်သည် အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်ဖြင့် စိတ်၏အလင်းရ၏။ အမှန်တရား၏ အလင်းရောင်တွင် သွားလာ၏။ ဂျန္နတ်၏ အရိပ်ကိုခိုရ၏။ ကာဖိရ်မူကား စိတ်နှလုံးကန်း၏။ မိစ္ဆာမှောင်များတွင် တဝဲလည်လည်ဖြစ်နေ၏။ ဂျဟန္နမ်၏ မီးအပူခံရ၏။ သို့ဖြစ်ရာ မုအ်မင်န်နှင့် ကာဖိရ်သည် အသို့လျှင် တူနိုင်အံ့နည်း။

စစ်မှန်သော ထာဝစဉ်တည်ရှိမည်ဖြစ်သော အသက်ရှင်မှုသည် "အီမာန်" တည်းဟူသော အသက်ဝိညာဉ်ဖြင့်သာလျှင် ရရှိနိုင်ပေသည်။ အီမာန်တည်းဟူသော အသက်ဝိညာဉ်မရှိပါက လူသားသည် ထောင်ပေါင်းများစွာသော သူသေများထက်ပင် ဆိုးရွားပေသည်။

② အလ္လာဟ်အရှင်မြတ်သည် အလိုတော်ရှိတော်မူပါက သင်္ချိုင်းများတွင် မြှုပ်နှံထားသော သူသေများကိုပင် ကြားသိစေတော်မူနိုင်သည်။ ဤသည့် စွမ်းရည်သတ္တိသည် အလ္လာဟ်အရှင်မြတ်၌သာရှိသည်။ ထိုအရှင်မြတ်မှတစ်ပါး အခြားမည်သူ့၌မျှ ယင်းသည့် စွမ်းရည်သတ္တိအလျှင်းမရှိ။

တမန်တော်များ၏ တာဝန်မှာ အလ္လာဟ်အရှင်မြတ်ထံတော်မှ မိမိတို့ထံကျရောက်လာသော ဒေသနာတော်များကို သက်ဆိုင်ရာအမျိုးသားတို့ထံ ပို့ပေးရန်သာဖြစ်သည်။ စိတ်နှလုံးသေနေသော ကာဖိရ်တစ်ဦးက တမန်တော်၏စကားကို နားမထောင်သည်ကို နားထောင်လာစေရန် ထိုတမန်တော် မည်သို့မျှမပြုစွမ်းနိုင်ပေ။

وَاِنۡ يُّكَذِّبُوۡكَ فَقَدۡ كَذَّبَ الَّذِيۡنَ مِنۡ قَبۡلِهِمۡ‌ۚ جَآءَتۡهُمۡ رُسُلُهُمۡ بِالۡبَيِّنٰتِ وَبِالزُّبُرِ وَبِالۡكِتٰبِ الۡمُنِيۡرِ ﴿٢٥﴾

၂၅။ ထို့ပြင် အကယ်၍ ၎င်းတို့သည် အသင့်အား မုသာဝါဒီဟူ၍ စွပ်စွဲငြင်းပယ်ကြလျှင် အမှန်စင်စစ် ၎င်းတို့အလျင် ရှိခဲ့ဘူးကြသော ရှေးသူဟောင်းတို့သည်လည်း မဟုတ်မမှန်ဟူ၍ စွပ်စွဲငြင်းပယ်ခဲ့ကြကုန်၏။ ထို(ရှေးသူဟောင်း)တို့ထံ ၎င်းတို့၏ ရဆူလ်တမန်တော်များသည် ထင်ရှားစွာသော သက်သေလက္ခဏာများကိုလည်းကောင်း၊ ကျမ်းငယ်များကိုလည်းကောင်း၊ ကျမ်းကြီးများကိုလည်းကောင်း၊ ယူဆောင်၍ လာခဲ့ကြကုန်၏။

ثُمَّ اَخَذۡتُ الَّذِيۡنَ كَفَرُوۡا فَكَيۡفَ كَانَ نَكِيۡرِ ﴿٢٦﴾

၂၆။ ထိုနောက် ငါအရှင်မြတ်သည် သွေဖည်ငြင်းပယ်ခဲ့ကုန်သောသူတို့အား ဖမ်းဆီးကွပ်မျက်တော်မူခဲ့ရာ ငါအရှင်မြတ်၏ ပြစ်ဒဏ်သည် မည်သို့ရှိခဲ့ပေသနည်း။

اَلَمۡ تَرَ اَنَّ اللّٰهَ اَنۡزَلَ مِنَ السَّمَآءِ مَآءً‌ ۚ فَاَخۡرَجۡنَا بِهٖ ثَمَرٰتٍ مُّخۡتَلِفًا اَلۡوَانُهَا‌ ؕ وَمِنَ الۡجِبَالِ جُدَدٌۢ بِيۡضٌ وَّحُمۡرٌ مُّخۡتَلِفٌ اَلۡوَانُهَا وَغَرَابِيۡبُ سُوۡدٌ ﴿٢٧﴾

၂၇။ အသင်သည် မမြင်ခဲ့လေသလော၊ စေကန်မလွဲ ငါအရှင်မြတ်သည် မိုးကောင်းကင်မှ ရေကို ချပေးတော်မူခဲ့၏။ ထို့နောက် ငါအရှင်မြတ်သည် ထိုရေဖြင့် အရောင်အသွေး အမျိုးမျိုး ကွဲပြားခြားနားသော သစ်သီးဝလံများကို ထွက်(ဖူး၊ ပွင့်၊ သီး) စေတော်မူခဲ့၏။

ထိုနည်းတူစွာ တောင်များ၌လည်း တောင်ကြားလမ်းများရှိကြပေရာ အချို့မှာအဖြူများဖြစ်၍ အချို့မှာ အနီများဖြစ်ကြသည့်ပြင်၊ ၎င်းတို့၏ အရောင်များမှာ အထူးထူး အပြားပြား ဖြစ်ကြ၏။ အချို့မှာလည်း အလွန်မည်းနက်၏။

وَمِنَ النَّاسِ وَالدَّوَآبِّ وَالۡاَنۡعَامِ مُخۡتَلِفٌ اَلۡوَانُهٗ

၂၈။ ထိုမှတပါး လူတို့တွင်လည်းကောင်း၊ သက်ရှိသတ္တဝါတို့တွင်လည်းကောင်း၊ ကုလားအုတ်၊ ကျွဲ၊ နွား၊ တိရစ္ဆာန်တို့တွင်လည်းကောင်း၊ ထိုနည်းအတိုင်းပင် အရောင်အဆင်းအမျိုးမျိုးရှိကြပေသည်။

كَذٰلِكَ ۗ اِنَّمَا يَخْشَى اللّٰهَ مِنْ عِبَادِهِ الْعُلَمٰٓؤُا ۗ اِنَّ اللّٰهَ عَزِيْزٌ غَفُوْرٌ ﴿٢٨﴾

အလ္လာဟ်အရှင်မြတ်အား ထိုအရှင်မြတ်၏ ကျွန်တို့အနက် *'အာလင်မ်' ပညာရှင်များသာလျှင် ကြောက်ရွံ့ကြကုန်၏။*[၁] စင်စစ်မလွဲ အလ္လာဟ်အရှင်မြတ်သည် အလွန်တရာ နိုင်နင်းလွှမ်းမိုးတော်မူသောအရှင်၊ အလွန်တရာ ခွင့်လွှတ်ချမ်းသာပေးတော်မူသောအရှင်၊ ဖြစ်တော်မူပေသတည်း။

اِنَّ الَّذِيْنَ يَتْلُوْنَ كِتٰبَ اللّٰهِ وَاَقَامُوا الصَّلٰوةَ وَاَنْفَقُوْا مِمَّا رَزَقْنٰهُمْ سِرًّا وَّعَلَانِيَةً يَّرْجُوْنَ تِجَارَةً لَّنْ تَبُوْرَ ﴿٢٩﴾

**၂၉။** စင်စစ်အမှန် အကြင်သူတို့သည် အလ္လာဟ်အရှင်မြတ်၏ ဒေသနာတော် ကျမ်းဂန်ကို ရွတ်ဖတ်သရဇ္ဈာယ်ကြကုန်၏။ ၎င်းပြင် "ဆွလာတ်" ဝတ်ပြုမှုကို ဆောက်တည်ကြကုန်၏။ ထိုမှတပါး ထိုသူတို့အား ငါအရှင်မြတ် ချီးမြှင့် ပေးသနားတော်မူခဲ့သည့် (ပစ္စည်းဥစ္စာ)များအနက်မှ လျှို့ဝှက်စွာလည်းကောင်း၊ ထင်ပေါ်စွာသော်လည်းကောင်း၊ လှူဒါန်းကြကုန်၏။ ထိုသူတို့ကား အလျှင်း ဆုံးရှုံး ပျက်စီးမည် မဟုတ်သော ရောင်းဝယ်ဖောက်ကားမှုမျိုးကို မျှော်လင့်တောင့်တလျက် ရှိကြကုန်၏။[၂]

---

**(၁) <u>အလ္လာဟ်အရှင်မြတ်အား "အာလင်မ်" ပညာရှင်များသာ ကြောက်ရွံ့ခန့်ညားသည်၊</u>**

လူသားတို့တွင် အလ္လာဟ်အရှင်မြတ်အား မကြောက်ရွံ့ မခန့်ညားသူများလည်းရှိ၏။ ကြောက်ရွံ့ခန့်ညားသူများလည်းရှိ၏။ အလ္လာဟ်အရှင်မြတ်၏ အတိုင်းမသိ ကြီးကဲမြင့်မြတ်မှု၊ တန်ခိုးကြီးမားမှု၊ နောင်တမလွန်ဘဝ၏ ထာဝရတည်ရှိမှုနှင့် ဤပစ္စက္ခဘဝ၏သခ်ါရဖြစ်မှု၊ မတည်မြဲမှုများကို နားလည်သဘောပေါက်ကြသော၊ မိမိတို့အရှင်သခင်၏ ဒေသနာတော်များဆိုင်ရာ အသိပညာများကို ဆည်းပူး၍ နောင်ရေးအတွက်ပူပန်ကြသော ပုဂ္ဂိုလ်များသာလျှင် ထိုအရှင်မြတ်အား ကြောက်ရွံ့ခန့်ညားကြပေသည်။ လူသားတစ်ဦးသည် ဤသည့်နားလည်မှု အသိပညာရှိသည်နှင့်အမျှသာ အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ခန့်ညားသည်။သို့ဖြစ်ရာ အလ္လာဟ်အရှင်မြတ်အား မကြောက်ရွံ့မခန့်ညားသော ပညာရှင်တစ်ဦးအား "အာလင်မ်" ပညာရှင်ဟူ၍ပင် မခေါ်အပ်ပေ၊

(၂) ဤအာယတ်တော်တွင် လာရှိသည့် "အလျှင်းဆုံးရှုံး ပျက်စီးမည်မဟုတ်သော ရောင်းဝယ်ဖောက်ကားမှု" ဟူသည် ဂျန္နတ်၏ ထာဝရအမတသုခများကို ဆိုလိုသည်။ကြည့်-မာဂျိဒီ။

အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ရိုသေခန့်ညားသော ပုဂ္ဂိုလ်များသည် ထိုအရှင်မြတ်၏ ကျမ်းဂန်ကို ရိုသေလေးမြတ်စွာ ရွတ်ဖတ်ကြသည်။ ဆွလာတ်ဝတ်ပြုမှုကို စနစ်တကျအခါမပြတ် ဆောက်တည်ကြသည်။ ၎င်းတို့အား အလ္လာဟ်အရှင်မြတ် ချီးမြှင့်ထားတော်မူသော ဥစ္စာပစ္စည်းများကိုလည်း လျှို့ဝှက်စွာတနည်း၊ ➤➤

لِيُوَفِّيَهُمْ أُجُورَهُمْ
وَيَزِيدَهُمْ مِّن فَضْلِهِ ۚ
إِنَّهُ غَفُورٌ شَكُورٌ ﴿٣٠﴾

၃၀။ နောက်ဆုံးတွင် ထိုအရှင်မြတ်သည် ၎င်းတို့အား ၎င်းတို့၏အကျိုးများ ပြည့်စုံစွာ ချီးမြှင့် ပေးသနားတော်မူသည့်အပြင် မိမိကျေးဇူးတော်နှင့် ၎င်းတို့အား ပိုမို၍ပင် ချီးမြှင့်တော်မူပေမည်။

စင်စစ်ကေန် ထိုအရှင်မြတ်သည် အလွန်တရာ ခွင့်လွှတ် ချမ်းသာပေးတော်မူသော၊ အလွန်တရာ ရက်ရောစွာ ကျေးဇူးတုံ့ပြန်တော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

وَالَّذِي أَوْحَيْنَا إِلَيْكَ مِنَ
الْكِتَابِ هُوَ الْحَقُّ مُصَدِّقًا
لِّمَا بَيْنَ يَدَيْهِ ۗ إِنَّ اللَّهَ
بِعِبَادِهِ لَخَبِيرٌ بَصِيرٌ ﴿٣١﴾

၃၁။ စင်စစ်သော်ကား အသင့်ထံ ငါအရှင်မြတ် ထုတ်ပြန်တော်မူသော (ဤ)ကျမ်းဂန်သည် လုံးဝအမှန် ဖြစ်၏။ (ထိုကျမ်းဂန်သည်) မိမိအလျင် (ကျရောက် ခဲ့ဖူးသော) ကျမ်းဂန်များကိုလည်း မှန်ကန်သည်ဟု ထောက်ခံလျက်ရှိ၏။

မုချအမှန် အလ္လာဟ်အရှင်မြတ်သည် မိမိ၏ ကျွန်တို့နှင့် ပတ်သက်၍ အလွန်တရာ ကြားသိတော် မူသော၊ အလွန်တရာ သိမြင်တော်မူသော၊ အရှင်မြတ် ပင် ဖြစ်တော်မူပေသတည်း။ ၁

>> ထင်ရှားစွာတဖုံ ပေးကမ်းလှူဒါန်းကြသည်။ ယင်းသို့သော ပုဂ္ဂိုလ်မွန်များသည် မည်သည့်အခါ၌မျှ အလျှင်း ဆုံးရှုံးမည်မဟုတ်သော ရောင်းဝယ်ဖောက်ကားမှု (ဝါ) ဂျန္နတ်၏ ထာဝရအမတသုခများကို မျှော်ကိုး စောင့်စားလျက် ရှိကြပေသည်။ အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့အား ၎င်းတို့၏ ကုသိုလ်အကျိုးများကို အပြည့်အဝ ချီးမြှင့်တော်မူသည်သာမက မိမိ၏ကျေးဇူးတော်ဖြင့် ပိုမို၍ချီးမြှင့်တော်မူဦးမည်ဖြစ်သည်။

① အလ္လာဟ်အရှင်မြတ်သည် လူသားတို့၏ အခြေအနေအရပ်ရပ်ကို ကြွင်းမဲ့ဥဿုံအလုံးစုံကို သိတော်မူသည်၊ မြင်တော်မူသည်။ သို့သိမြင်တော်မူသည့် အလျောက် လျော်ကန်သင့်မြတ်သော အချိန်တွင် လျော်ကန်သင့်မြတ်သော၊ မှန်ကန်တိကျသော ကုရ်အာန်ကျမ်းတော်မြတ်ကို တမန်တော်မြတ် မုဟမ္မဒ် (ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)ထံ ထုတ်ပြန်ပို့ချတော် မူခြင်းဖြစ်သည်။ ဤကျမ်းမြတ်သည် မိမိအလျင် ကျရောက်ခဲ့သော တောင်ရာတ်၊ အင်န်ဂျီလ်၊ ဇဗူရ် -- စသည့်ကျမ်းဂန်များ၏ မှန်ကန်သော မှုများကိုလည်း မှန်ကန်ကြောင်း ထောက်ခံလျက်ရှိသည်။

ثُمَّ أَوْرَثْنَا الْكِتٰبَ الَّذِيْنَ اصْطَفَيْنَا مِنْ عِبَادِنَا ۚ فَمِنْهُمْ ظَالِمٌ لِّنَفْسِهٖ ۚ وَمِنْهُمْ مُّقْتَصِدٌ ۚ وَمِنْهُمْ سَابِقٌ بِالْخَيْرٰتِ بِإِذْنِ اللّٰهِ ۗ ذٰلِكَ هُوَ الْفَضْلُ الْكَبِيْرُ ﴿٣٢﴾

၃၂။ ထို့နောက် ငါအရှင်မြတ်သည် မိမိကျွန်များ
အနက်မှ ငါအရှင်မြတ် ရွေးချယ်တော်မူသောသူတို့အား
(ဤ)ကျမ်းဂန်ကို အမွေအဖြစ် ချီးမြှင့်ပေးသနားတော်
မူ၏။ သို့ရာတွင် ၎င်းတို့အနက်အချို့မှာ မိမိကိုယ်ကို
မိမိရက်စက်သောသူရှိ၏။ အချို့မှာ မဇ္ဈိမပဋိပဒါစနစ်
ကို လိုက်နာသူရှိ၏။ အချို့မှာကား အလ္လာဟ်
အရှင်မြတ်၏အမိန့်တော်ဖြင့် ကောင်းမှုများနှင့်တကွ
ရှေ့မှသွားသူရှိ၏။ ဤသည်ကား ကြီးကျယ်စွာသော
ကျေးဇူးတော်ပင်ဖြစ်ပေသတည်း။ ၁

---

① **ကုရ်အာန်၏ အမွေခံအုပ်စု။**

အထက်တွင် ဖော်ပြပါရှိသည့်အတိုင်း အလ္လာဟ်အရှင်မြတ်သည် ကုရ်အာန်ကျမ်းတော်မြတ်ကို ဦးစွာပထမ တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)အား ချီးမြှင့်တော်မူ၏။ ကိုယ်တော်မြတ်၏နောက် ထိုအရှင်မြတ်သည် မိမိ၏ကျွန်များအနက်၊ မှစ်လင်မ်အုပ်စုကြီးအား ကုရ်အာန်ကျမ်းမြတ်၏ အမွေဆက်အမွေခံ အဖြစ် ချီးမြှင့်မြှောက်စားထားတော်မူ၏။ ဤကားကြီးကဲမြင့်မြတ်လှသော ကျေးဇူးတော်ပင်။ ဤသည်ကို ထောက်ရှုခြင်းအားဖြင့်၊ ကုရ်အာန်ကျမ်းမြတ်၏ အမွေဆက်၊ အမွေခံဖြစ်သော မှစ်လင်မ်အုပ်စုကြီးသည် အခြား အုပ်စုများထက် ထူးကဲမြင့်မြတ်သည်မှာ ထင်ရှားလှပေသည်။ သို့ပင်တစေ၊ မှစ်လင်မ်အုပ်စုကြီးတွင် မှစ်လင်မ် အားလုံးတို့သည် တမျိုးတစားတည်း မဟုတ်ကြပေ။ မှန်ကန်တိကျသော အီမာန်ယုံကြည်မှုတွင် တူညီကြသော်လည်း ၎င်းတို့တွင်၊

၁။ ပြစ်မှုများတွင် နစ်မွန်း၍ မိမိတို့ကိုယ်ကို မိမိတို့ကျူးကျော်စော်ကား သူများလည်းရှိကြပေသည်။
၂။ ပြစ်မှုများတွင် နစ်မွန်းကြသည်လည်းမဟုတ်၊ သူတော်စင်ကြီးများလည်းမဟုတ်၊ အလယ် အလတ် လမ်းစဉ်ကို လိုက်နာကျင့်သုံး သူများလည်း ရှိကြပေသည်။
၃။ အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်ဖြင့် ပါပ၊ ညစ်ကျူမကောင်းမှုအစုစုကို အရှောင်ကြီး ရှောင်၍ ကုသိုလ်ကောင်းမှုအစုစုကို သူတစ်ပါးတို့ထက်သာအောင် ကြိုးပမ်းသယ်ပိုးသူများ လည်း ရှိကြပေသည်။ ဤမည်သော မှစ်လင်မ်တို့ကား မှစ်လင်မ်တို့တွင် အကောင်းဆုံးနှင့် အမြင့်မြတ်ဆုံးပင် ဖြစ်ကြပေသည်။

ဖော်ပြပါ မှစ်လင်မ်သုံးမျိုးသုံးစားတွင် အကောင်းဆုံးသည် အကောင်းဆုံးပင်၊ အလတ်သည် အလတ်ပင်၊ အညံ့သည် အညံ့ပင်။ အညံ့စား မှစ်လင်မ်များသည်လည်း တိကျမှန်ကန်သော အီမာန်ယုံကြည်မှုကြောင့် မှစ်လင်မ်များပင်ဖြစ်ကြပေရာ၊ နောက်ဆုံးတွင် အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်ဖြင့် ဂျန္နတ်သို့ ဝင်ရောက် စံမြန်းကြရမည်သာတည်း။ ( تَوَفَّنِيْ مُسْلِمًا وَّأَلْحِقْنِيْ بِالصّٰلِحِيْنَ )

(အလ္လာဟ်အရှင်မြတ်သည် ကျွန်တော်မျိုးဝို့အား မှစ်လင်မ်အုပ်စုကြီးတွင် အသက်ထက်ဆုံး ပါဝင် တွဲဘက် ထားတော်မူပါစေသတည်း)။

جَنّٰتُ عَدْنٍ يَّدْخُلُوْنَهَا
يُحَلَّوْنَ فِيْهَا مِنْ اَسَاوِرَ
مِنْ ذَهَبٍ وَّلُؤْلُؤًا ۚ
وَلِبَاسُهُمْ فِيْهَا حَرِيْرٌ ﴿٣٣﴾

၃၃။ ထာဝစဉ် နေထိုင်ရအံ့သော ဥယျာဉ်များပင်၊ ၎င်းတို့သည် ယင်းဥယျာဉ်များ၌ ဝင်ရောက်ကြပေမည်။ ထိုသူတို့သည် ယင်းဥယျာဉ်များ၌ ရွှေလက်ကောက်များဖြင့်လည်းကောင်း၊ ပုလဲများဖြင့်လည်းကောင်း၊ တန်ဆာ ဆင်ယင်ပေးခြင်းကို ခံကြရပေမည်။ ထိုမှတပါး ယင်းဥယျာဉ်များ၌ ၎င်းတို့၏ ဝတ်စားတန်ဆာမှာ ပိုးအဝတ်အထည်ပင် ဖြစ်ပေမည်။

وَقَالُوا الْحَمْدُ لِلّٰهِ الَّذِيْٓ
اَذْهَبَ عَنَّا الْحَزَنَ ۭ اِنَّ
رَبَّنَا لَغَفُوْرٌ شَكُوْرُ ﴿٣٤﴾

၃၄။ ထိုမှတပါး ၎င်းတို့သည် (ဤသို့) ပြောဆိုကြပေမည်။ "ချီးမွမ်းခြင်း ထောပနာအပေါင်းတို့သည် ကျွန်တော်မျိုးတို့မှ ပူပင်သောကကို ပပျောက်စေတော်မူသော အလ္လာဟ်အရှင်မြတ်နှင့်သာသက်ဆိုင်၏။ မလွဲဧကန် ကျွန်တော်မျိုးတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်သည် အလွန်တရာ ခွင့်လွှတ်တော်မူသောအရှင်၊ အလွန်တရာ ရက်ရောစွာ ကျေးဇူးတုံ့ပြန်တော်မူသော အရှင်အမှန်ပင် ဖြစ်တော်မူ၏။"

الَّذِيْٓ اَحَلَّنَا دَارَ الْمُقَامَةِ
مِنْ فَضْلِهٖ ۚ لَا يَمَسُّنَا فِيْهَا
نَصَبٌ وَّلَا يَمَسُّنَا فِيْهَا
لُغُوْبٌ ﴿٣٥﴾

၃၅။ အကြင် အရှင်မြတ်သည် မိမိကျေးဇူးတော်နှင့် ကျွန်တော်မျိုးတို့အား အမြဲထာဝရ နေရအံ့သောဌာန၌ နေရာချပေးတော်မူ၏။ ထိုဌာနတွင် ကျွန်တော်မျိုးတို့၌ မည်သည့်ပင်ပန်းမှုမျှလည်း သက်ရောက်မည်မဟုတ်ပေ။ ထိုမှတပါး ကျွန်တော်မျိုးတို့၌ ထိုဌာနတွင် မည်သည့်ငြီးငွေ့မှုမျှလည်း သက်ရောက်မည်မဟုတ်ပေတကား။

وَالَّذِيْنَ كَفَرُوْا لَهُمْ نَارُ
جَهَنَّمَ ۚ لَا يُقْضٰى عَلَيْهِمْ

၃၆။ သို့ရာတွင် "ကာဖိရ်" သွေဖည်ငြင်းပယ်သူတို့အဖို့ "ဂျဟန္နမ်" ငရဲဘုံ၏ မီးသည်ရှိပေမည်။ ၎င်းတို့အပေါ်၌ ၎င်းတို့ သေဆုံးနိုင်ကြအံ့သောငှာ အမိန့်တော် ပြဋ္ဌာန်းခြင်းခံရမည်လည်း မဟုတ်ပေ၊

فَيَمُوْتُوْا وَلَا يُخَفَّفُ عَنْهُمْ مِّنْ عَذَابِهَا ؕ كَذٰلِكَ نَجْزِيْ كُلَّ كَفُوْرٍ ۚ ﴿٣٦﴾

ယင်းငရဲဘုံ၏ပြစ်ဒဏ်သည် ၎င်းတို့မှ ပေါ့လျော့စေခြင်း ခံရမည်လည်း မဟုတ်ပေ။ ငါအရှင်မြတ်သည် ဤနည်းအတိုင်းပင် သွေဖည်သူတိုင်းကို အစားပေးတော်မူသည်။

وَهُمْ يَصْطَرِخُوْنَ فِيْهَا ۚ رَبَّنَآ اَخْرِجْنَا نَعْمَلْ صَالِحًا غَيْرَ الَّذِيْ كُنَّا نَعْمَلُ ؕ اَوَلَمْ نُعَمِّرْكُمْ مَّا يَتَذَكَّرُ فِيْهِ مَنْ تَذَكَّرَ وَجَآءَكُمُ النَّذِيْرُ ؕ فَذُوْقُوْا فَمَا لِلظّٰلِمِيْنَ مِنْ نَّصِيْرٍ ۚ ﴿٣٧﴾

၃၇။ ထို့ပြင် ၎င်းတို့သည် ယင်း "ဂျဟန္နမ်" ငရဲဘုံ၌ "အို–ကျွန်တော်မျိုးတို့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်၊ အရှင်မြတ်သည် ကျွန်တော်မျိုးတို့အား (ဤငရဲဘုံမှ)ထုတ်တော်မူပါ၊ ကျွန်တော်မျိုးတို့သည် မိမိတို့ ပြုလုပ်လျက် ရှိခဲ့ကြသော အပြုအမူများမှ တပါး ကောင်းမြတ်သော အကျင့်သီလကို ကျင့်မူဆောက်တည်ကြပါမည်" ဟု ဟစ်အော်(ကျွေးကြော်ထား)ကြပေမည်။

ထိုအခါ) ၎င်းတို့သည် ဤသို့ ပြန်ကြားတော်မူခြင်းကို ခံကြရပေမည်)၊ ငါအရှင်မြတ်သည် စဉ်းစား ဆင်ခြင်လိုသောသူများ စဉ်းစားဆင်ခြင်နိုင်လောက်သော သက်တမ်းကို အသင်တို့အား ပေးတော်မူခဲ့သည် မဟုတ်ပါလော။ ထိုမှတပါး အသင်တို့ထံ သတိပေး နှိုးဆော်သူလည်း ရောက်ရှိခဲ့သည် (မဟုတ်ပါလော)။ သို့ဖြစ်ပေရာ (ယခုမူ) အသင်တို့သည် (ပြစ်ဒဏ်၏အရသာကို) မြည်းစမ်းကြလေကုန်။ စင်စစ်မတရားသော သူတို့၏အဖို့ ကူညီယိုင်းပင်းမည့်သူဟူ၍ အလျှင်းမရှိပြီတကား။

اِنَّ اللّٰهَ عٰلِمُ غَيْبِ السَّمٰوٰتِ وَالْاَرْضِ ؕ

၃၈။ မလွဲဧကန် အလ္လာဟ်အရှင်မြတ်သည် မိုးကောင်းကင်များ၌ ဖုံးအုပ်လျက်ရှိသည်တို့ကိုလည်းကောင်း၊ ပထဝီမြေ၌ဖုံးအုပ်လျက်ရှိသည်တို့ကိုလည်းကောင်း၊ သိတော်မူသောအရှင်မြတ် ဖြစ်တော်မူ၏။

إِنَّهُ عَلِيمٌۢ بِذَاتِ ٱلصُّدُورِ ۳۸

ကေန်စင်စစ် ထိုအရှင်မြတ်သည် စိတ်နှလုံးများ၌ ရှိသည်တို့ကို ကောင်းစွာ သိရှိတော်မူသော အရှင် ဖြစ်တော်မူ၏။

هُوَ ٱلَّذِى جَعَلَكُمْ خَلَٰٓئِفَ فِى
ٱلْأَرْضِ ۚ فَمَن كَفَرَ فَعَلَيْهِ
كُفْرُهُۥ ۖ وَلَا يَزِيدُ ٱلْكَٰفِرِينَ
كُفْرُهُمْ عِندَ رَبِّهِمْ إِلَّا
مَقْتًا ۖ وَلَا يَزِيدُ ٱلْكَٰفِرِينَ
كُفْرُهُمْ إِلَّا خَسَارًا ۳۹

၃၉။ ထိုအရှင်မြတ်သည်ပင်လျှင် အသင်တို့အား ကမ္ဘာမြေ၌ ရိုက်ရာဆက်ခံသူများအဖြစ် ပြုလုပ်တော်မူခဲ့သောအရှင် ဖြစ်တော်မူ၏။ သို့ဖြစ်ပေရာ မည်သူမဆို ကျေးဇူးကန်းခဲ့ပါမူ ၎င်း၏ ကျေးဇူးကန်းမှု(၏ အပြစ်)သည် ၎င်း၏ အပေါ်၌သာ ကျရောက်ပေမည်။

စင်စစ်သော်ကား "ကာဖိရ်" သွေဖည်ငြင်းပယ်သူတို့အပေါ်၌ ၎င်းတို့၏သွေဖည်မှုသည် ၎င်းတို့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်အထံတော်တွင် မုန်းတီး စက်ဆုပ်မှုကိုသာလျှင် တိုးပွားစေမည်ဖြစ်၏။ ထိုနည်းတူစွာ "ကာဖိရ်" သွေဖည်ငြင်းပယ်သော သူတို့၌ ၎င်းတို့၏ သွေဖည်မှုသည် ဆုံးရှုံးမှုကိုသာ လျှင် ပိုမို တိုးပွားစေအံ့သတည်း။

قُلْ أَرَءَيْتُمْ شُرَكَآءَكُمُ ٱلَّذِينَ
تَدْعُونَ مِن دُونِ ٱللَّهِ
أَرُونِى مَاذَا خَلَقُوا۟ مِنَ ٱلْأَرْضِ
أَمْ لَهُمْ شِرْكٌ فِى ٱلسَّمَٰوَٰتِ
أَمْ ءَاتَيْنَٰهُمْ كِتَٰبًا فَهُمْ عَلَىٰ
بَيِّنَتٍ مِّنْهُ ۚ بَلْ إِن يَعِدُ
ٱلظَّٰلِمُونَ بَعْضُهُم

၄၀။ (အို-နဗီတမန်တော်) အသင်သည် ပြောကြားပါလေ။ (အချင်းတို့၊) အသင်တို့သည် အလ္လာဟ် အရှင်မြတ်အားစွန့်၍ ဟစ်ခေါ် တသကြကုန်သော မိမိတို့၏ တွဲဖက်ကိုးကွယ်ရာတို့အား မမြင်ခဲ့ကြလေ သလော။

အသင်တို့သည် ငါ့အားပြသကြလေကုန်။ ထို (အသင်တို့၏ တွဲဖက် ကိုးကွယ်ရာ)တို့သည် ပထဝီမြေ၏ မည်သည့်အစိတ်အပိုင်းကို ဖန်ဆင်း ခဲ့ကြသနည်း။ သို့တည်းမဟုတ် မိုးကောင်းကင်များ၌ ၎င်းတို့၏ ဖက်စပ်မှုတစုံတရာ ရှိလေသလော။

بَعْضًا اِلَّا غُرُوْرًا ﴿٤٠﴾

သို့တည်းမဟုတ် ငါအရှင်မြတ်သည် ၎င်းတို့အား ကျမ်းဂန်တစ်စောင်စောင်ကို ချီးမြှင့်ပေးသနားတော်မူခဲ့သဖြင့် ၎င်းတို့သည် ယင်းကျမ်းဂန်၏ အထောက်အထား တရပ်ရပ်အပေါ်၌ ရပ်တည်၍ နေကြသလော။ ထိုသို့ အလျှင်းမဟုတ်။ စင်စစ်မှာကား မတရားသောသူတို့သည် မိမိတို့ အချင်းချင်း တစ်ဦးကို တစ်ဦး လိမ်လည် လှည့်ဖြားခြင်းမှတပါး အခြားမည်သည်ကိုမျှပင် ကတိပေးကြသည် မဟုတ်ပြီ။

اِنَّ اللّٰهَ يُمْسِكُ السَّمٰوٰتِ وَالْاَرْضَ اَنْ تَزُوْلَا ۚ وَلَئِنْ زَالَتَآ اِنْ اَمْسَكَهُمَا مِنْ اَحَدٍ مِّنْۢ بَعْدِهٖ ؕ اِنَّهٗ كَانَ حَلِيْمًا غَفُوْرًا ﴿٤١﴾

၄၁။ စင်စစ်ကေန် အလ္လာဟ်အရှင်မြတ်သည် မိုးကောင်းကင်များကိုလည်းကောင်း၊ ပထဝီမြေကိုလည်းကောင်း၊ ရွေ့လျားတိမ်းပါးမသွားရန် ထိန်းထားတော်မူ၏။ သို့ရာတွင် ကေန်စင်စစ် အကယ်၍သာ ယင်းမိုးကောင်းကင်များနှင့် ပထဝီမြေတို့သည် ရွေ့လျားတိမ်းပါး၍ သွားခဲ့ကြသော် ထိုအရှင်မြတ်မှတပါး မည်သူတစ်ဦးတစ်ယောက်မျှကပင် ယင်းမိုးကောင်းကင်များနှင့် ပထဝီမြေတို့ကို ထိန်းနိုင်မည် မဟုတ်ပေ။ ကေန်အမှန် ထိုအရှင်မြတ်သည် ခန္တီတရားနှင့်အလွန်ပြည့်စုံတော်မူထသော၊ အလွန်တရာ ခွင့်လွှတ်တော်မူထသော အရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

وَاَقْسَمُوْا بِاللّٰهِ جَهْدَ اَيْمَانِهِمْ لَئِنْ جَآءَهُمْ نَذِيْرٌ لَّيَكُوْنُنَّ اَهْدٰى مِنْ اِحْدَى الْاُمَمِ ۚ فَلَمَّا

၄၂။ စင်စစ်သော်ကား ၎င်းတို့က "အမှန်ပင် အကယ်၍ သတိပေးနှိုးဆော်သူ တစ်ဦးတစ်ယောက်သည် မိမိတို့ထံ လာခဲ့ပါလျှင် မုချကေန် မိမိတို့မှာ သာသနာ၀င် အုပ်စုတိုင်းထက် ပိုမို၍ပင် တရားလမ်းမှန်ကို လိုက်နာသူများ ဖြစ်ကြပေမည်" ဟု အလ္လာဟ်အရှင်မြတ်အား တိုင်တည်၍ အစွမ်းကုန်ကျိန်ဆိုခဲ့ကြကုန်၏။

جَآءَهُمْ نَذِيرٌ مَّا زَادَهُمْ إِلَّا نُفُورًا ﴿٤٢﴾

သို့တစေလည်း (ထို)သတိပေးနှိုးဆော်သူသည် ၎င်းတို့ထံသို့ ရောက်ရှိ၍လာသောအခါ ထို(သို့ရောက်ရှိ၍လာခြင်း)သည် ၎င်းတို့၌ စက်ဆုပ်မှုကိုသာလျှင် တိုးပွားစေခဲ့၏။ [၁]

ٱسْتِكْبَارًا فِى ٱلْأَرْضِ وَمَكْرَ ٱلسَّيِّئِ ۚ وَلَا يَحِيقُ ٱلْمَكْرُ ٱلسَّيِّئُ إِلَّا بِأَهْلِهِۦ ۚ فَهَلْ يَنظُرُونَ إِلَّا سُنَّتَ ٱلْأَوَّلِينَ ۚ فَلَن تَجِدَ لِسُنَّتِ ٱللَّهِ تَبْدِيلًا ۖ وَلَن تَجِدَ لِسُنَّتِ ٱللَّهِ تَحْوِيلًا ﴿٤٣﴾

၄၃။ မိမိတို့ကိုယ်ကို ကမ္ဘာမြေ၌ အထင်ကြီးခဲ့ကြသောကြောင့် ထို့မှတပါး မကောင်းသော ကြံစည်မှုကို(လည်း တိုးပွားစေခဲ့၏)။ အမှန်စင်စစ်သော်ကား မကောင်းသောအကြံအစည်၏ အကျိုးသည် ယင်းမကောင်းသောအကြံအစည်ကို ကြံစည်သောသူတို့၏ အပေါ်၌သာလျှင် သက်ရောက်ပေသည်။ သို့ဖြစ်ပေရာ ၎င်းတို့သည် ရှေးသူဟောင်းတို့၏ ကျင့်ရိုးကျင့်စဉ်ကိုသာလျှင် စောင့်မျှော်၍နေကြကုန်၏။ စင်စစ်မှာကား အသင်သည် အလ္လာဟ်အရှင်မြတ်၏ ကျင့်ရိုးကျင့်စဉ်၌ မည်သည့်ပြောင်းလဲမှုကိုမျှပင် အလျှင်း တွေ့ရှိမည် မဟုတ်ပေ။ ထို့မှတပါး အသင်သည် အလ္လာဟ်အရှင်မြတ်၏ ကျင့်ရိုးကျင့်စဉ်၌ မည်သည့်လဲလှယ်မှုကိုလည်း အလျှင်းတွေ့ရှိမည် မဟုတ်ပေတကား။ [၂]

---

(၁) ယဟူဒီ၊နဆွ်ရာနီ-- စသည့်ဘာသာဝင်များသည် မိမိတို့ထံပွင့်လာခဲ့ကြသော တမန်တော်များအား သွေဖည်ခဲ့ကြသည့် အကြောင်းများကို အရဗ်လူမျိုးများ သိသောအခါ ၎င်းတို့က “အကယ်၍သာ ငါတို့ထံ တမန်တော်တပါးပါး ပွင့်လာခဲ့ပါလျှင် ငါတို့သည် ထိုထိုသော ဘာသာဝင်အုပ်စု အသီးသီးထက်ပို၍ တရားဓမ္မကို နာယူကျင့်မူကြမည်”ဟု အလ္လာဟ်အရှင်မြတ်အား အကြီးအကျယ်တိုင်တည် ပြောဆိုနေခဲ့ကြ၏။ ယင်းသို့ ပြောဆိုနေခဲ့ကြသော အရဗ်အမျိုးသားများထံသို့ အလ္လာဟ်အရှင်မြတ်သည် တမန်တော်အပေါင်းတို့၏ အချုပ်ဖြစ်တော်မူသော တမန်တော်မြတ်မုဟမ္မဒ် (ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)အား စေလွှတ်တော်မူခဲ့လေသည်။ သို့စေလွှတ်ပေးတော်မူလိုက်သည့်အခါ၊ ယင်းအရဗ်လူမျိုးတို့သည် မောက်မာပလွှား ဝါးကြွားနေခဲ့ကြသည့်အတွက် မိမိတို့ထံပွင့်လာသော တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)အား ကြည်ညိုရန်ဝေးစွ၊ စက်ဆုပ်မုန်းတီးခဲ့ကြသည်။ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)အား ချေမှုန်းရန်ပင် မကောင်းသော အကြံစည်များနှင့် ကြံစည်လာခဲ့ကြသည်။ သို့ရာတွင် သိထားအပ်သည်မှာ မကောင်းသောကြံစည်မှု၏ မကောင်းကျိုးသည် သို့မကောင်းကြံစည်သူများ အပေါ်သို့ သက်ရောက်သည်သာ ဖြစ်သည်။ သူတစ်ပါးအား မတရားကြံစည်သူများသည် ခေတ္တခဏ ပျော်နိုင်ကြမည်ဖြစ်သော်လည်း နောက်ဆုံးတွင် ၎င်းတို့သည်သာလျှင် ➤➤

أَوَلَمْ يَسِيرُوا فِي الْأَرْضِ فَيَنظُرُوا كَيْفَ كَانَ عَاقِبَةُ الَّذِينَ مِن قَبْلِهِمْ وَكَانُوا أَشَدَّ مِنْهُمْ قُوَّةً ۚ وَمَا كَانَ اللَّهُ لِيُعْجِزَهُ مِن شَيْءٍ فِي السَّمَاوَاتِ وَلَا فِي الْأَرْضِ ۚ إِنَّهُ كَانَ عَلِيمًا قَدِيرًا ﴿٤٤﴾

၄၄။ ၎င်းတို့သည် ကမ္ဘာမြေဝယ် လှည့်လည်မသွားလာခဲ့ကြသလော။ သို့သွားလာခဲ့ကြလျှင် ၎င်းတို့သည် မိမိတို့အလျင်ရှိခဲ့ကြသောသူတို့၏ နောက်ဆုံးအကျိုးသည် မည်သို့ရှိခဲ့သည်ကို တွေ့မြင်ကြပေမည်။ စင်စစ်မှာကား ထို(ရှေး)သူ(ဟောင်း)တို့သည် ခွန်အားဗလအရာ၌ ၎င်းတို့ထက် ပိုမိုသန်စွမ်းပြင်းထန်သူများပင် ဖြစ်ခဲ့ကြကုန်၏။ သို့ရာတွင် မိုးကောင်းကင်များ၌ဖြစ်စေ၊ ပထဝီမြေ၌ဖြစ်စေ၊ မည်သည့်အရာမျှပင်၊ အလ္လာဟ်အရှင်မြတ်အား အရေးရှုံးနိမ့်အောင် ပြုစွမ်းနိုင်သည်မရှိပေ။ ဧကန်စင်စစ် ထိုအရှင်မြတ်သည် အရာခပ်သိမ်းတို့ကို သိရှိတော်မူသောအရှင်၊ အရာခပ်သိမ်းတို့ကို ပြုစွမ်းနိုင်တော်မူသောအရှင်၊ ဖြစ်တော်မူ၏။ ၁

---

➢➢ ကိုယ့်လုံ ကိုယ်ရှူးကာ ပျက်စီးခြင်းမက ပျက်စီးခြင်းဖြင့် နိဂုံးချုပ်သွားရသည်သာ ဖြစ်သည်။ ဤကား အထင်အရှားပင်။

၂ အလ္လာဟ်အရှင်မြတ်၏ "စွန္နတ်"ကျင့်ရိုးကျင့်စဉ်မှာ ပြစ်မှုကျူးလွန်သူတို့အား အပြစ်ရှိသည့်အလျောက် သတ်မှတ်ထားတော်မူသည့် အချိန်တွင် ပြစ်ဒဏ်ခတ်တော် မူခြင်းပင်ဖြစ်သည်။ ထိုအရှင်မြတ်၏ ကျင့်ရိုးကျင့်စဉ်တွင် အပြောင်းအလဲမရှိ လဲလှယ်မှုလည်းမရှိ၊ ဆိုလိုသည်ကား- ထိုအရှင်မြတ်သည် ပြစ်မှုကျူးလွန်သူများအား ပြစ်ဒဏ်ခတ်တော်မူရမည့်အစား ကျေးဇူးပြုတော်မူသည်ဟူ၍ လည်းမရှိ၊ ပြစ်မှုကျူးလွန်သူများအား ပြစ်ဒဏ်ခတ်တော်မူရမည့်အစား အခြားအပြစ်မဲ့သူတို့အား ပြစ်ဒဏ်ခတ်တော်မူသည် ဟူ၍လည်းမရှိ၊ အလ္လာဟ်အရှင်မြတ်၏ ကျင့်ရိုးကျင့်စဉ်မှာ အတိတ်တွင်လည်း ဤအတိုင်းဖြစ်ခဲ့ပေသည်။ ယခုပစ္စုပ္ပန်တွင်လည်း ဤအတိုင်းပင်ဖြစ်ပေသည်။ နောင်အနာဂတ်တွင်လည်း ဤအတိုင်းပင်ဖြစ်ပေမည်။ သို့ဖြစ်ရာ၊ အလ္လာဟ်အရှင်မြတ်အား သွေဖည်နေကြသော လူ့ပါပီများသည် ထိုအရှင်မြတ်၏ ဤသည့်"စွန္နတ်" ကျင့်ရိုးကျင့်စဉ်ကို သတိပြုကြရာသတည်း။

၁ လက်ရှိကာဖိရ်၊ မုရှ်ရစ်က်များသည် ကမ္ဘာအရပ်ရပ်သို့လှည့်လည်၍ အတိတ်ခေတ်ရှိ ၎င်းတို့၏ နောင်တော်ကြီးများဖြစ်သော ကာဖိရ်၊ မုရှ်ရစ်က်တို့သည် မည်သို့မည်ပုံ ဇာတ်သိမ်း သွားခဲ့ကြသည်များကို မကြည့်ကြလေသလော။ အမှန်မှာ အတိတ်ခေတ်ကာဖိရ်၊ မုရှ်ရစ်က်များသည် လက်ရှိကာဖိရ်၊ မုရှ်ရစ်က်များထက် ခွန်အားဗလ ကြီးထွားခဲ့ကြပေသည်။ အာဒ်၊ဆမူဒ် စသည့်မျိုးနွယ်များသည် ကမ္ဘာမြေပြင်တွင် ထင်တိုင်းသောင်းကျန်း သွားခဲ့ကြပေသည်။ ယင်းသို့သော မျိုးနွယ်များသည်ပင် အလ္လာဟ်အရှင်မြတ်၏ ဖမ်းဆီးကွပ်မျက်တော်မူခြင်းမှ မလွတ်မြောက်နိုင်ခဲ့ကြလျှင် လက်ရှိ ကာဖိရ်၊ မုရှ်ရစ်က်များသည် အသို့လျှင် လွတ်မြောက်နိုင်ကြအံ့နည်း။ ကာဖိရ်၊မုရှ်ရစ်က်အားလုံး သိအပ်ထားကြသည်မှာ မိုး၊မြေအတွင်း၌ မည်သည့်အင်အားစုမျှ အလ္လာဟ် ➢➢

وَلَوْ يُؤَاخِذُ اللَّهُ النَّاسَ بِمَا كَسَبُوا مَا تَرَكَ عَلَىٰ ظَهْرِهَا مِن دَابَّةٍ وَلَٰكِن يُؤَخِّرُهُمْ إِلَىٰ أَجَلٍ مُّسَمًّى ۖ فَإِذَا جَاءَ أَجَلُهُمْ فَإِنَّ اللَّهَ كَانَ بِعِبَادِهِ بَصِيرًا ﴿٤٥﴾

၄၅။ အမှန်စင်စစ်သော်ကား အကယ်၍သာအလ္လာဟ်အရှင်မြတ်သည် လူတို့အား၊ ၎င်းတို့ရှာဖွေဆည်းပူးခဲ့ကြလေသော ပြစ်မှုများကြောင့် ဖမ်းဆီးအရေးယူတော်မူသည်ရှိသော် ကမ္ဘာမြေ၏ ကျောက်ကုန်းထက်ဝယ် လှုပ်ရှားသွားလာသော မည်သည့်သတ္တဝါကိုမျှပင် ချန်ထားတော်မူမည် မဟုတ်ပေ။ သို့ရာတွင် ထိုအရှင်မြတ်သည် ၎င်းတို့အား သတ်မှတ်ပြဋ္ဌာန်းပြီးဖြစ်သော အချိန်ကာလတိုင်အောင် ဆိုင်းငံ့၍ထားတော်မူ၏။ ထို့နောက် ၎င်းတို့၏ အချိန်ကာလ ဆိုက်ရောက်လာသောအခါ (၎င်းတို့၏ အကျင့်အမူတို့နှင့် စပ်လျဉ်း၍ အကျိုးအပြစ် ပေးတော်မူပေမည်)။ ဧကန်မလွဲ အလ္လာဟ်အရှင်မြတ်သည် မိမိကျွန်တို့အား ကောင်းစွာသိမြင်တော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။ ၁

---

➤➤ အရှင်မြတ်အား အရေးနိမ့်အောင် ပြုစွမ်းနိုင်သည်မရှိ။ အဘယ်ကြောင့်ဆိုသော် အလ္လာဟ်အရှင်မြတ်၏ ဉာဏ်တော်ကား အပြောကျယ်လှ၏။ ထိုအရှင်မြတ်၏ တန်ခိုးတော်တွင် အဆုံးဟူ၍မရှိ။ အနန္တောအနန္တတည်း။ ထိုအရှင်မြတ်သည် အရာခပ်သိမ်းကုန်ကို အကြွင်းမဲ့သိတော်မူသည်။ အရာခပ်သိမ်းကို ပြုစွမ်းတော်မူနိုင်သည်။ သို့ဖြစ်ရာ အလ္လာဟ်အရှင်မြတ်၏ အာဏာစက်အတွင်းမှ မည်သူလွတ်မြောက်သွားနိုင်အံ့နည်း။

① အကယ်၍သာ အလ္လာဟ်အရှင်မြတ်သည် လူသားတို့အား အပြစ်ရှိသည့်အလျောက် အတိအကျ အရေးယူတော်မူပါက၊ ကမ္ဘာမြေပြင်တွင် သတ္တဝါဟူ၍ တဦးတစ်ယောက်မျှပင် ကျန်ရှိမည်မဟုတ်ပေ။ အပြစ်ရှိသူများသည် အပြစ်ရှိသည့်အလျောက်၊ ကွပ်မျက်ဖျက်ဆီးခြင်း ခံကြရပေမည်။ အပြစ်မရှိသောသူများ၏ အရေအတွက်မှာလည်း လွန်စွာနည်းပါးလှသည့်အတွက် ကမ္ဘာမြေပြင်တွင် လက်တဆုပ်စာမျှသော သူတော်ကောင်းများအား ဆက်လက်ထားရှိရန်လည်း မလိုတော့ပေ။ လူ့လောကဌ် လူသားတို့မရှိပြီးနောက် လူသားတို့အား၊ အကျိုးပြုနေကြသော အခြားသတ္တဝါများနှင့် ကမ္ဘာအိမ်ထောင်စုကြီး တစ်ခုလုံးသည်ပင် မလိုတော့ပေ။ ဤသို့ဖြင့် ကမ္ဘာအိမ်ထောင်စုကြီး တခုလုံး ဆိတ်သုဉ်းသွားပေမည်။ ယခုမူအလ္လာဟ်အရှင်မြတ်သည် လူသားတို့အား သတ်မှတ်ထားတော်မူသည့်အချိန်အထိ၊ လျစ်လျူရှုထားတော် မူခြင်းသာဖြစ်သည်။ သို့သတ်မှတ်ထားတော်မူသည့် အချိန်ကာလ ဆိုက်ရောက်လာသည့်အခါ ကောင်းသူအား ကောင်းသည့်အလျောက်၊ ဆိုးသူအား ဆိုးသည့်အလျောက် ကျိုးပြစ်စီရင်တော်မူမည်ပင်ဖြစ်သည်။

# ယာစီန် ကဏ္ဍ

سُوْرَةُ يٰسٓ

ဤကဏ္ဍသည်"ယာစီန်"ကဏ္ဍမည်၏။ မက္ကာမြို့တော်၌ ကျရောက်ခဲ့၏။
ဤကဏ္ဍတွင် အာယတ်တော် (၈၃)ပါး၊ ရုကူအ်အပိုဒ်(၅)ပိုဒ် အသီးသီးရှိ၏။

**ဤကဏ္ဍ၏ မြင့်မြတ်ပုံ။**

ဤကဏ္ဍ၏မြင့်မြတ်ပုံ၊ ထူးကဲပုံများနှင့် စပ်လျဉ်း၍ 'ဟဒီးစ်' ဩဝါဒတော်အမြောက်အမြား လာရှိပေသည်။ တဖ်စီရ်ကျမ်းရှင်များကလည်း ယင်းသည့် ဟဒီးစ်ဩဝါဒတော်များကို အထူးတလည်ရေးသားဖော်ပြကြသည်။ ဤတွင်အနည်းငယ်ဖော်ပြပါအံ့။

တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)က မိန့်ကြားတော်မူခဲ့သည်မှာ–

"အရာရာ၌ စိတ်နှလုံးရှိသည်။ ကုရ်အာန်၏ စိတ်နှလုံးမှာ "ယာစီန်" ဖြစ်သည်။ အကြင်သူသည် အလ္လာဟ်အရှင်မြတ်အား ရည်စူး၍ ယာစီန်ကို ရွတ်ဖတ်အံ့။ ထိုသူသည် လွတ်ငြိမ်းချမ်းသာခွင့်ရရှိအံ့။ ထို့ပြင်တဝ ကုရ်အာန်ကျမ်းမြတ်ကို အကြိမ်ပေါင်း (၂၂) ကြိမ် ရွတ်ဖတ်သည်နှင့်အမျှ ကုသိုလ်အကျိုးရရှိအံ့"။

အဗူစုအူဒ်၊

တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်) က မိန့်ကြားတော်မူခဲ့သည်မှာ

မည်သည့်မုစ်လင်မ်မဆို ၎င်းသေအံ့ဆဲဆဲ အသက်ငင်နေချိန်တွင် (၎င်း၏အနီး၌) ယာစီန်ကဏ္ဍကို ရွတ်ဖတ်အံ့၊ သေမင်းတမန်သည် ထိုသူ၏ အသက်ကိုနှုတ်သိမ်းခြင်းမပြုပဲ ဆိုင်းငံ့နေအံ့၊ ဂျန္နတ်မှူး ကောင်းကင်တမန်'ရိဃ်ဝါန်' သည် ထိုသူ့ထံ ဂျန္နတ်မှ ရေကြည်တစ်ခွက် ယူဆောင်၍လာအံ့၊ ထိုသူသည် ထိုရေကြည်ကို မိမိအိပ်ရာ၌ပင် သောက်အံ့၊ ထိုအခါတွင်မှ သေမင်းတမန်သည်ထိုသူ၏ အသက်နှုတ်အံ့၊ ထိုအချိန်တွင် ထိုသူသည် ရေငတ်ပြေလျက်ရှိအံ့၊ ထိုသူသည် သင်္ချိုင်းတွင် ရှိနေအံ့၊ ထိုအချိန်တွင်လည်း ရေငတ်ပြေလျက်ရှိအံ့၊ ထိုသူသည် တမန်တော်များ၏ မည်သည့်ရေကန်ကိုမျှ တောင့်တနေရမည်မဟုတ်၊ နောက်ဆုံးတွင် ထိုသူသည် ဂျန္နတ်သို့ဝင်ရအံ့၊ ထိုအချိန်တွင်လည်း ထိုသူသည် ရေငတ်ပြေလျက်ရှိအံ့။ အဗူစုအူဒ်၊

တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)က

"ကုရ်အာန်ကျမ်းတော်မြတ်တွင် ကဏ္ဍတစ်ခုရှိသည်။ ယင်းကဏ္ဍသည် မိမိအား ရွတ်ဖတ်သရဇ္ဈာယ်သူကို (ရှဖာအတ်) ပြုလုပ်ပေးမည်။ မိမိအား နားထောင်သူအဖို့ လွတ်ငြိမ်းခွင့် ပန်ကြားပေးမည်။ ထိုကဏ္ဍကား အခြားမဟုတ်၊ ယာစီန်ကဏ္ဍပင်ဖြစ်သည်" ဟု မိန့်ကြားတော်မူခဲ့လေသည်။ အဗူစုအူဒ်၊

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ ۝

အလွန်တရာ သနားကြင်နာ ညှာတာတော်မူသော၊ အနန္တကရုဏာတော်ရှင် ဖြစ်တော်မူသော အလ္လာဟ်အရှင်မြတ်၏နာမတော်ဖြင့် အစပြုပါ၏။

يٰسٓ ۝١

၁။ ယာစီန်။ [၁]

وَالْقُرْاٰنِ الْحَكِيْمِ ۝٢

၂။ (ငါအရှင်မြတ်သည်) ဉာဏ်အမြော်အမြင်နှင့် ပြည့်စုံသော (ဤ)ကုရ်အာန်ကျမ်းတော်မြတ်ကို သက်သေ ထူထောင်တော်မူသည်။

اِنَّكَ لَمِنَ الْمُرْسَلِيْنَ ۝٣

၃။ မလွဲဧကန် အသင်သည် ရစူလ်တမန်တော် အပေါင်းတို့တွင် အမှန်ပင် တစ်ပါး အပါအဝင် ဖြစ်သည်။

عَلٰى صِرَاطٍ مُّسْتَقِيْمٍ ۝٤

၄။ ဖြောင့်မတ်သော တရားလမ်းပေါ်၌ တည်ရှိ နေပေသည်။ [၂]

---

(၁) **ယာစီန်၊**

"ယာစီန်" ဟူသော သင်္ကေတအက္ခရာစုကို မုဖတ်စ်စစ်ရ်များသည် အောက်ပါအတိုင်း အမျိုးမျိုးအနက် ဖွင့်ဆိုထားသည်။ -အချို့ကို ဤတွင်ဖော်ပြအံ့။

အချို့က "ယာစီန်"သည် 'ယာ-မုဟမ္မဒ်'-(အို-မိုဟမ္မဒ်)ဟူသော အနက်၌ ဖြစ်သည်' ဟုဆိုကြသည်။ (ဒုရ်ရီမန်ဆူရ်)။

"ယာစီန်"သည် ကုရ်အာန်ကျမ်းမြတ်၏ အချို့ကဏ္ဍများ၏ အစ၌ပါရှိသော အခြားသင်္ကေတ အက္ခရာစုများကဲ့သို့ သင်္ကေတအက္ခရာစု တခုပင်ဖြစ်သည်။ ယင်းသင်္ကေတအက္ခရာစု၏ အလိုသဘောကို အလ္လာဟ်အရှင်မြတ်သာလျှင် အသိဆုံးဖြစ်တော်မူသည်။ ထာနဝီ။

(၂) ကုရ်အာန်ကျမ်းလာ အာယတ်တော်များသည် ပညာဉာဏ် အမြော်အမြင်ဆင်ခြင်တုံတရားနှင့် ပြည့်နှက်လျက်ရှိသည်။ တိုတုပ်၊ သိပ်သည်းနက်နဲ သိမ်မွေ့လှသည်။ အဓိပ္ပါယ်ကြွယ်ဝလှသည်။ မှန်ကန်တိကျသည်။ သာယာနာဖွယ်ရှိလှသည်။ ထိမိလှသည်။ ပြိုင်ဘက်ကင်းသည်။ ဤသည့် ဝိသေသဂုဏ်ထူးများနှင့် ပြည့်စုံသော ကုရ်အာန်ကျမ်းမြတ်သည်ပင် "မိမိအား ယူဆောင်လာသော ပုဂ္ဂိုလ်မြတ်မှာ အလ္လာဟ်အရှင်မြတ် စေလွှတ်တော်မူသော တမန်တော်တစ်ပါးဖြစ်ကြောင်း၊ ဖြောင့်မတ်မှန်ကန်သော တရားလမ်းစဉ်အပေါ်၌ ရပ်တည်လျက်ရှိနေကြောင်း၊ ဤလမ်းစဉ်ကို လိုက်နာသူအပေါင်းတို့သည်လည်း လိုရာပန်းတိုင်သို့ ရောက်ရှိကြမည်ဖြစ်ကြောင်း" ကို သက်သေခံလျက် ရှိပေသည်။

تَنۡزِيۡلَ الۡعَزِيۡزِ الرَّحِيۡمِۙ ۝٥

၅။ (ဤကုရ်အာန်ကျမ်းတော်မြတ်သည်) တန်ခိုးအာနုဘော်ဖြင့် နိုင်နင်းလွှမ်းမိုးတော်မူသော၊ အလွန်တရာ သနားကြင်နာတော်မူသော၊ အရှင်မြတ်၏ အထံတော်မှ ချပေးတော်မူ(သော ကျမ်းဂန်တော်ဖြစ်)သည်။ ၁

لِتُنۡذِرَ قَوۡمًا مَّاۤ اُنۡذِرَ اٰبَآؤُهُمۡ فَهُمۡ غٰفِلُوۡنَ ۝٦

၆။ (ယင်း ကုရ်အာန်ကျမ်းတော်မြတ်ကို ချပေးသနားတော်မူခြင်းမှာ) အသင်သည် (ဦးစွာ ပထမသော်) အကြင်အမျိုးသားတို့အား သတိပေးနှိုးဆော်ရန်ဖြစ်သည်။ ၂ ထိုအမျိုးသားတို့၏ အဘ၊ ဘိုး၊ ဘေးတို့မှာ သတိပေးနှိုးဆော်ခြင်းမခံခဲ့ရကြပေ၊ သို့ဖြစ်ပေရာ ထိုအမျိုးသားတို့သည် (တရားလမ်းမှန်ကို) မသိသူများပင် ဖြစ်ကြကုန်သည်။

---

① ကုရ်အာန်ကျမ်းမြတ်သည် အလ္လာဟ်အရှင်မြတ် ထုတ်ပြန်ချမှတ်ထားတော်မူသော ကျမ်းဂန်ဖြစ်သည်။ ထိုအရှင်မြတ်သည် ဘုန်းတန်ခိုးတေဇော် အာနုဘော်ဖြင့် အရာရာကို နိုင်နင်းလွှမ်းမိုးတော် မူသောအရှင်၊ အလွန်သနားကြင်နာတော်မူသော အရှင်ဖြစ်တော်မူသည်။ ထိုအရှင်မြတ်သည် အမိန့်တော်ကို သွေဖည်ငြင်းဆန်မနာခံသူများအား ထိုက်သည့်အားလျော်စွာ ပြစ်ဒဏ်ပေးတော်မူသည်။ အမိန့်တော်ကို နာခံသူများအား သနားကြင်နာတော်မူသည်။ ဆုလာဘ်များ ချီးမြှင့်တော်မူသည်။

ထို့အတွက်ကြောင့် ကုရ်အာန်ကျမ်းလာ အချို့အာယတ်တော်များတွင် ကရုဏာတော်အရောင်သန်းလျက်၊ အချို့အာယတ်တော်များတွင် ဘုန်းတန်ခိုးတေဇော်ရောင် သန်းလျက်ရှိသည်ကို တွေ့ရှိရပေသည်။ (သို့ဖြစ်ရာ ထိုအရှင်မြတ်၏ အမျက်တော်ကို ကြောက်ရသည်၊ ထိုအရှင်မြတ်၏ ကရုဏာတော်ကို မျှော်ကိုးရသည်။)

② <u>တမန်တော်မြတ်၏ တာဝန်၊</u>

တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)၏တာဝန်မှာ ကုရ်အာန်ကျမ်းမြတ်ဖြင့် ဦးစွာပထမ အရဗ်အမျိုးသားတို့အား သတိပေး နှိုးဆော်ရန်ဖြစ်သည်။ အရဗ်အမျိုးသားတို့အား သတိပေး နှိုးဆော်ရမည့် တာဝန်ကား မသေးငယ်ပေ။ အလွန်ကြီးလေးလှပေသည်။ အဘယ်ကြောင့်ဆိုသော် အရဗ်အမျိုးသားတို့ထံ နှစ်ပရိစ္ဆေဒ မြောက်မြားစွာကတည်းက သတိပေးနှိုးဆော်သူ တစ်ဦးတစ်ယောက်မျှပင် မလာရောက်ခဲ့ဘူးသေးချေ။ အရဗ်အမျိုးသားတို့သည် တရားမဲ့မှုနှင့် ကင်းကွာလျက် ဆိုးမိုက်နေခဲ့ကြ၏။ ၎င်းတို့သည် အလ္လာဟ်အရှင်မြတ်ကိုလည်း မသိခဲ့ကြပေ။ နောင်တမလွန်ဘဝကိုလည်း မသိခဲ့ကြပေ။ ၎င်းတို့သည် အတိတ်ဖြစ်ရပ်များမှလည်း သင်ခန်းစာ မယူခဲ့ကြပေ။ နောင်ရေးကိုလည်း မတွေးခဲ့ကြပေ။ ၎င်းတို့၌ ဆင်ခြင်တုံတရားလည်း မရှိ၊ ထို့အတွက် အကောင်းနှင့်အဆိုး၊ အမှားနှင့်အမှန်ကိုလည်း ခွဲခြားမသိခဲ့ကြပေ။ ➤➤

لَقَدْ حَقَّ الْقَوْلُ عَلَىٰٓ أَكْثَرِهِمْ
فَهُمْ لَا يُؤْمِنُونَ ٧

၇။ ကေန်မလွဲ ၎င်းတို့အနက် မြောက်မြားစွာသောသူတို့အပေါ်၌ အမိန့်တော်သည် အတည်ဖြစ်ခဲ့ပေရာ ၎င်းတို့မှာ "အီမာန်" သက်ဝင်ယုံကြည်ကြမည် မဟုတ်ပေတကား။

إِنَّا جَعَلْنَا فِىٓ أَعْنَٰقِهِمْ
أَغْلَٰلًا فَهِىَ إِلَى
ٱلْأَذْقَانِ فَهُم مُّقْمَحُونَ ٨

၈။ ကေန်အမှန် ငါအရှင်မြတ်သည် ၎င်းတို့၏ လည်ကုပ်များ၌ လည်ကွင်းများကိုစွပ်ထားတော်မူခဲ့ရာ ယင်းလည်ကွင်းများမှာ (၎င်းတို့၏) မေးစေ့များအထိ ရောက်ရှိ၍ နေကုန်၏။ ထို့ကြောင့် ၎င်းတို့သည် ဦးခေါင်းမော့လျက်ပင် ရှိနေကုန်၏။

وَجَعَلْنَا مِنۢ بَيْنِ أَيْدِيهِمْ
سَدًّا وَمِنْ خَلْفِهِمْ سَدًّا
فَأَغْشَيْنَٰهُمْ فَهُمْ
لَا يُبْصِرُونَ ٩

၉။ ထို့ပြင် ငါအရှင်မြတ်သည် ထိုသူတို့ရှေ့၌ အကာအဆီးတစ်ခုကိုလည်းကောင်း၊ ထိုသူတို့၏ နောက်၌ အကာအဆီးတစ်ခုကိုလည်းကောင်း၊ ပြုလုပ်တော်မူခဲ့၏။ ထို့နောက် ငါအရှင်မြတ်သည် ၎င်းတို့အား (အထက်မှလည်း) ဖုံးလွှမ်းထားတော်မူခဲ့ရာ [(တနည်း) ထိုသို့အားဖြင့် ငါအရှင်မြတ်သည် ၎င်းတို့အား (အဖက်ဖက်မှ) ဝိုင်းဝန်းထားတော်မူခဲ့ရာ] ၎င်းတို့မှာ မြင်နိုင်ကြတော့သည် မဟုတ်ပြီ။

---

➤➤ မိဘရိုးရာ ထုံးတမ်းစဉ်လာများတွင်သာ နစ်မွန်း၍ အလွဲလွဲ အမှားမှား ဖြစ်နေခဲ့ကြသည်။ ယင်းကဲ့သို့ ခေတ်အဆက်ဆက်မှ အမိုက်မှောင် အထပ်ထပ်တွင် နစ်မွန်းနေခဲ့ကြသော အရဗ်အမျိုးသားတို့အား ကုရ်အာန် ကျမ်းမြတ်ဖြင့် အမှောင်ခွင်း၍ အလင်းသို့ဆောင်ရမည့် အရေးကား လွယ်ကူသော အလုပ်မဟုတ်ပေ။ သို့ပင်တစေ၊ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)သည် တာဝန်သိသိ၊ သစ္စာရှိရှိဖြင့် ကမ္ဘာသမိုင်းစဉ်တွင် မတွေ့ကြုံခဲ့ရဘူးသော ဆားအန္တရာယ်အပေါင်းကို ကျော်လွှန်ကာ ယင်းအမိုက်မှောင်ကြီးများတွင် နစ်မွန်းနေခဲ့ကြသော အရဗ်တို့အား အလင်းသို့ ဆောင်တော်မူနိုင်ခဲ့သည်။ အဖက်ဖက်တွင် နိမ့်ကျနေခဲ့သော အရဗ်တို့အား လူ့ဘဝ အထွဋ်အထိပ်သို့ တင်ဆောင်ပေးတော်မူနိုင်ခဲ့သည်။

တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)သည် အရဗ်တို့အား တရားဓမ္မ ပေးတော်မူနိုင်ခဲ့သည် သာမက ကမ္ဘာအဝှန်းသို့ အစ္စလာမ့်ရောင်ခြည် ပေးစွမ်းနိုင်စေသည့် အစ္စလာမ့်မီးရှူးတန်ဆောင်ကြီးများ ဖြစ်ကြစေရန်လည်း ကျိုးပမ်း ဆောင်ရွက်တော်မူနိုင်ခဲ့လေသည်။ ဤကား တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)၏ တာဝန်နှင့် တာဝန်ကျေမှုပင်။

وَسَوَآءٌ عَلَيْهِمْ ءَأَنذَرْتَهُمْ أَمْ لَمْ تُنذِرْهُمْ لَا يُؤْمِنُونَ ⑩

၁၀။ စင်စစ် (အို-နဗီတမန်တော်၊) အသင်သည် ၎င်းတို့အား သတိပေးနှိုးဆော်ခဲ့သည်ဖြစ်စေ၊ သတိပေးနှိုးဆော်ခြင်း မပြုခဲ့သည်ဖြစ်စေ၊ ၎င်းတို့အဖို့ အကြောင်းမထူးပြီ၊ ၎င်းတို့သည် "အီမာန်" သက်ဝင် ယုံကြည်ကြမည် မဟုတ်ပေ။ [၁]

---

(၁) ဤအာယတ်တော်များတွင် အီမာန်ယုံကြည်ကြမည်မဟုတ်သော ကာဖိရ်များအား ပုံဆောင်ချက် ၂-ရပ်ဖြင့် ပုံဆောင်မိန့်ဆို ထားတော်မူသည်။ ပုံဆောင်ချက်တရပ်မှာ ကာဖိရ်တစ်ဦး၏ လည်ကုပ်တွင် လည်ကွင်းကြီး စွပ်ထားသည်။ စွပ်ထားသော လည်ကွင်းကြီးမှာ မေးစေ့အထိဖြစ်သည်။ ထို့အတွက် ဦးခေါင်းသည် မော့လျက်သာရှိသည်။ အောက်သို့ မည်သို့မျှ မငုံ့နိုင်ချေ။

ထိုသို့ဖြစ်ရှိနေသော ကာဖိရ်တဦးသည် လမ်းကို အသို့လျှင် မြင်နိုင်တော့အံ့နည်း။ အခြားပုံဆောင်ချက် တရပ်မှာ ကာဖိရ်တဦး၌ ၎င်း၏ရှေ့တွင်လည်း အုတ်တံတိုင်းကြီး တစ်ခု ကာဆီးလျက်ရှိသည်။ ၎င်း၏နောက်တွင် လည်း အုတ်တံတိုင်းကြီးတစ်ခု ကာဆီးလျက်ရှိသည်။ ထို့ပြင်တဝ ထိုကာဖိရ်အား အကာအကွယ်များသည်လည်း အဖက်ဖက်မှ ဝန်းခြုံဖုံးအုပ်လျှက်ရှိသည်။ သို့ဖြစ်ရှိနေသော ကာဖိရ်တစ်ဦးသည် တစုံတစ်ရာကို အသို့လျှင် မြင်နိုင်တော့အံ့နည်း။ ကြည့်-ထာနဝီ။

အထက်ပါ ပုံဆောင်ချက်တွင်ပါရှိသော လည်ကွင်းကြီးများကား အခြားမဟုတ်။ မိဘရိုးရာ၊ ထုံးတမ်းစဉ်လာ၊ ဥစ္စာခနေ၊ ခင်မင်မှု၊ ရာထူးဌာနန္တရမက်မောမှု၊ ဘိုးဘေးတို့၏ စကားကို မစဉ်းစားမဆင်ခြင်ဘဲ မျက်စိမှိတ်၍ လိုက်နာမှုတည်းဟူသော လည်ကွင်းကြီးများပင်။ ယင်းသည့် လည်ကွင်းကြီးများသည် လည်ပင်းများကို တအားဖြစ်ညှစ်ထားသည်။ မောက်မာ ပလွှားဝါကြွားမှုကြောင့် ဦးခေါင်းသည် အထက်သို့မော့လျက်သာရှိသည်။ အောက်သို့ စိုးစဉ်းမျှ မငုံ့နိုင်၊ မည်သို့မျှ မလှည့်နိုင်။

ထို့ပြင်တဝ၊ တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)အား မလိုမုန်းတီးမှုများသည်လည်း တရားဓမ္မကို လက်ခံရာတွင် အုတ်တံတိုင်းကြီးများပမာ ရှေ့နောက် ဝဲယာမှ ကာဆီးထားသည်။ ဆိုးရွားသော အလိုဆန္ဒ၊ မှားယွင်းသောအတွေး၊ မိုက်မှားသော ရိုးရာစဉ်လာတည်း ဟူသော အမိုက်မှောင်များသည်လည်း အဖက်ဖက်မှ ဝန်းရံ ဖုံးအုပ်လျက်ရှိသည်။ သို့ဖြစ်ရာ ယင်းသို့သော ကာဖိရ်တစ်ဦးသည် တစ်စုံတစ်ရာကို အသို့လျှင် မြင်နိုင်တော့အံ့နည်း။

ယင်းသို့သော ကာဖိရ်များအား သတိပေးခြင်း၊ သတိမပေးခြင်းသည် ၎င်းတို့အဖို့ မထူးခြားပေ။ အတူတူပင်။ ယုံကြည်ကြတော့မည်လည်း မဟုတ်ပေ။ ယင်းကာဖိရ်များအဖို့ အကြောင်းသည် မထူးသော်လည်း တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)အဖို့မှာကား အကြောင်းထူးသည်။ ယင်းသို့သော ကာဖိရ်များကိုပင် တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)သည် ဖြူစင်သောစေတနာ၊ ကြီးမားသော သဘောထား၊ အံ့မဆုံးသော ခန္တီဖြင့် တရားဓမ္မဟောကြားတော် မူခဲ့သည်ဖြစ်ရာ တာဝန်ကျေပွန်လှသည့်အတွက် အကျိုးထူးများကို မုချခံစားရမည်သာဖြစ်သည်။ တခါတရံ ဤသည့်မြင့်မြတ်လှသော ဂုဏ်ရည်များသည် အခြားသူများ တရားရစေမည့် အကြောင်းလည်းဖြစ်သွားပေမည်။

إِنَّمَا تُنذِرُ مَنِ اتَّبَعَ الذِّكْرَ وَخَشِيَ الرَّحْمَٰنَ بِالْغَيْبِ ۖ فَبَشِّرْهُ بِمَغْفِرَةٍ وَأَجْرٍ كَرِيمٍ ⑪

၁၁။ အသင်သည် ဆုံးမသြဝါဒကို လိုက်နာသည့်အပြင် "ရဟ်မာန်" *အနန္တကရုဏာတော်ရှင်အား အကွယ်မှ ကြောက်ရွံ့ရှိသေသော သူကိုသာလျှင် သတိပေး နှိုးဆော်နိုင်၏။* [၁] သို့ဖြစ်ပေရာ အသင်သည် ထိုသူအား လွတ်ငြိမ်းချမ်းသာခွင့်နှင့် စပ်လျဉ်း၍လည်းကောင်း၊ မြင့်မြတ်လှစွာသော အကျိုးကျေးဇူးနှင့် စပ်လျဉ်း၍လည်းကောင်း၊ ဝမ်းမြောက်ဖွယ်ရာသတင်းကို ပြောကြားပါလေ။ [၂]

إِنَّا نَحْنُ نُحْيِ الْمَوْتَىٰ وَنَكْتُبُ مَا قَدَّمُوا وَآثَارَهُمْ ۚ وَكُلَّ شَيْءٍ أَحْصَيْنَاهُ فِي إِمَامٍ مُّبِينٍ ⑫

၁၂။ မလွဲဧကန် ငါအရှင်မြတ်သည်သာလျှင် သူသေတို့အားရှင်စေတော်မူပေမည်။ ထို့ပြင် ငါအရှင်မြတ်သည် ထိုသူတို့ ကြိုတင် ပို့ခဲ့ကြသည်များကိုလည်းကောင်း၊ ထိုသူတို့၏ ခြေရာများကိုလည်းကောင်း၊ **(တနည်း)** ထိုသူတို့သည်နောက်တွင် ချန်ရစ်ခဲ့ကြသည်များကိုလည်းကောင်း၊ ရေးသားထားတော်မူ၏။ ထိုမှတပါး ငါအရှင်မြတ်သည် အရာခပ်သိမ်းတို့ကို ထင်ရှားစွာသော *မှတ်တမ်းစာအုပ်တွင် တိကျစွာ ရေတွက် မှတ်သားတော်မူခဲ့ပြီး ဖြစ်ပေသတည်း။* [၃]

---

(၁) ဆိုလိုသည်ကား တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)သည် အဆုံးအမကို နာယူကျင့်မူသော၊ အလ္လာဟ်အရှင်မြတ်အား မမြင်ရဘဲလျက် ကြောက်ရွံ့ရှိသေ ခန့်ညားသော သူများကိုသာလျှင် သတိပေး နှိုးဆော်နိုင်ပေသည်။ ယင်းသို့သောသူများအား သတိပေး နှိုးဆော်ခြင်းဖြင့် အကျိုးလည်း သက်ရောက်နိုင်ပေသည်။ အဘယ်ကြောင့်ဆိုသော် ကြောက်ရွံ့ခန့်ညားမှုရှိမှ သာလျှင် အမှန်တရားကို ရှာဖွေလိုသည်။ အမှန်တရားကို ရှာဖွေလို၊ ရှာဖွေမှသာလျှင် လိုရာပန်းတိုင်သို့ ရောက်နိုင်ပေသည်။ ကြည့်-ထာနဝီ။

(၂) တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)သည် ယင်းသို့ အလ္လာဟ်အရှင်မြတ်အား ခန့်ညား၍ အဆုံးအမကို နာယူကျင့်မူသူကိုသာ လွတ်ငြိမ်းချမ်းသာခွင့်နှင့် မြင့်မြတ်လှသော အကျိုးစံစားရမည့်အကြောင်း ဝမ်းမြောက်ဖွယ်ရာ သတင်းစကားပြောကြားတော်မူရပေသည်။ ဤသည်ကို ထောက်ရှုခြင်းဖြင့် အလ္လာဟ်အရှင်မြတ်အား မခန့်ညားသော အဆုံးအမကို မနာခံသောသူများသည် လွတ်ငြိမ်းချမ်းသာခွင့်၊ မြင့်မြတ်လှသော အကျိုးနှင့် ကင်းဝေးကြရပြီး ပြစ်ဒဏ်ခံရမည်သာဖြစ်ကြောင်း ကောင်းစွာသိရှိနိုင်ပေသည်။

(၃) ဤပစ္စက္ခတွင် ကိုးပြစ်ခံ၊ စံရမှုသည် မထင်ရှားသော်လည်း သေပြီးသည့်နောက်၊ ပြန်လည်ရှင်ပြန်ထကြရသော အခါတွင်မှ ကိုးပြစ်ခံ၊ စံမှုသည် လုံးဝထင်ရှား ပေါ်လွင်လာပေမည်။ အဘယ့်ကြောင့်ဆိုသော် အလ္လာဟ် ➤➤

وَاضْرِبْ لَهُمْ مَّثَلًا
أَصْحٰبَ الْقَرْيَةِ إِذْ
جَآءَهَا الْمُرْسَلُوْنَ ۝١٣

၁၃။ ၎င်းပြင် (အို-နဗီတမန်တော်) အသင်သည် ၎င်းတို့အား ထိုမြို့သူမြို့သားတို့၏ အတ္ထုပ္ပတ္တိတစ်ခုကို ပြောပြပါလေ။ အခါတပါး၌ ထိုမြို့သူမြို့သားတို့ထံ ရစူလ်တမန်တော်များသည် ရောက်ရှိ၍လာခဲ့ကြကုန်၏။

إِذْ أَرْسَلْنَآ إِلَيْهِمُ اثْنَيْنِ
فَكَذَّبُوْهُمَا فَعَزَّزْنَا بِثَالِثٍ
فَقَالُوْٓا إِنَّآ إِلَيْكُمْ
مُّرْسَلُوْنَ ۝١٤

၁၄။ အကြင်အခါဝယ် ငါအရှင်မြတ်သည် ထိုမြို့သူမြို့သားတို့ထံ (ရစူလ်တမန်တော်)နှစ်ပါးကို စေလွှတ်တော်မူခဲ့ရာ ၎င်းတို့က ထိုနှစ်ပါးလုံးအား မုသာဝါဒီများဟူ၍ စွပ်စွဲငြင်းပယ်ခဲ့ကြကုန်၏။ သို့ဖြစ်ပေရာ ငါအရှင်မြတ်သည် တတိယ(ရစူလ်တမန်တော်)တပါးကို (စေလွှတ်တော်မူခြင်းအား)ဖြင့် (အားအင်တိုးတက်စေ)တော်မူခဲ့၏။ ထိုအခါ ထိုရစူလ်တမန်တော်တို့က "စင်စစ်စကန် ငါတို့သည် အသင်တို့ထံ စေလွှတ်ခြင်းခံကြရသော (ရစူလ်တမန်တော်များပင်) ဖြစ်ကြသည်" ဟု ပြောကြားခဲ့ကြကုန်၏။

قَالُوْا مَآ أَنْتُمْ إِلَّا بَشَرٌ
مِّثْلُنَا ۙ وَمَآ أَنْزَلَ
الرَّحْمٰنُ مِنْ شَيْءٍ ۙ
إِنْ أَنْتُمْ إِلَّا تَكْذِبُوْنَ ۝١٥

၁၅။ ထိုမြို့သူမြို့သားတို့က "အသင်တို့သည် ကျွန်ုပ်တို့ကဲ့သို့ လူသားများပင် ဖြစ်ကြပေသည်။ စင်စစ် "ရဟ်မာန်" အနန္တကရုဏာတော်ရှင်သည် အသင်တို့အပေါ်၌ မည်သည့်တစုံတရာကိုမျှ ချပေးတော်မူသည် မဟုတ်ပေ၊ အသင်တို့သည် မုသားပြောဆိုနေကြသည်သာ ဖြစ်သည်" ဟု ပြောဆိုခဲ့ကြကုန်၏။

---

➤➤ အရှင်မြတ်သည် (တရက်တွင်) သူသေအားလုံးတို့အား ရှင်စေတော်မူမည်ဖြစ်သည်။ ထို့ပြင်တဝ၊ ထိုအရှင်မြတ်သည် လူသားတို့ ကြိုတင်ပို့နှင့်ထားကြသော ကောင်းမှုမကောင်းမှုများနှင့် မိမိတို့နောက်တွင် ချန်ထားခဲ့ကြသော ခြေရာလက်ရာများ (ဝါ) ကောင်းမှုမကောင်းမှုတို့၏ အကျိုးဆက်များကို အတိအကျရေးမှတ်ထားတော်မူသည်။ သို့ဖြစ်၍လည်း ထိုအရှင်မြတ်သည် လူသားတို့အား ထိုက်တန်သည့် အားလျော်စွာ အတိအကျအကျိုးပေး အပြစ်တော်မူမည်သာတည်း။

၁၆။ ထိုရစူလ်တမန်တော်တို့က ပြောကြားခဲ့ကြကုန်၏။ “ကေန်မလွဲ ငါတို့သည် အသင်တို့ထံ စေလွှတ်ခြင်းခံကြရသော (ရစူလ်တမန်တော်များ) ဖြစ်ကြောင်းကို ငါတို့အား ဖန်ဆင်း မွေးမြူတော်မူသော အရှင်မြတ်သည် ကောင်းစွာ သိရှိတော်မူ၏။

قَالُوا رَبُّنَا يَعْلَمُ إِنَّا إِلَيْكُمْ لَمُرْسَلُونَ ١٦

၁၇။ သို့ရာတွင် ငါတို့အပေါ်၌မူကား (အလ္လာဟ် အရှင်မြတ်၏ အကြောင်းကြားချက်များကို အသင်တို့ထံ) ထင်ရှားစွာ ပို့ဆောင်ရန်တာဝန်မှတပါး အခြားတာဝန်မရှိပြီ။

وَمَا عَلَيْنَا إِلَّا الْبَلَاغُ الْمُبِينُ ١٧

၁၈။ ထိုမြို့သူမြို့သားတို့က ပြောဆိုခဲ့ကြကုန်၏။ “အမှန်စင်စစ် ကျွန်ုပ်တို့သည် အသင်တို့အား အမင်္ဂလာဟု ယူဆကြကုန်၏။ (သို့ဖြစ်ပေရာ) အကယ်၍ အသင်တို့သည် (ဆုံးမဩဝါဒပေးခြင်းကို) ရပ်စဲခြင်း မပြုကြပါလျှင် မုချအမှန် ကျွန်ုပ်တို့သည် အသင်တို့အား ခဲများဖြင့် ပစ်ပေါက်၍ သတ်ကြပေမည်။ ထိုမှတပါး ကျွန်ုပ်တို့ထံမှ အသင်တို့၌ ပြင်းပြနာကျင်ဖွယ်ဖြစ်သောပြစ်ဒဏ်သည်လည်း မလွဲဧကန် သက်ရောက်မည် ဖြစ်၏။” ၁

قَالُوا إِنَّا تَطَيَّرْنَا بِكُمْ لَئِن لَّمْ تَنتَهُوا لَنَرْجُمَنَّكُمْ وَلَيَمَسَّنَّكُم مِّنَّا عَذَابٌ أَلِيمٌ ١٨

---

(၁) အတိတ်ခေတ်များတွင် သူမိုက်တို့၌ အတိတ်နိမိတ်ကောက်မှုသည် အထူးခေတ်စားခဲ့သည်။ ဤဖြစ်ရပ်သည်လည်း အဆိုပါ မြို့ပတ်ဝန်းကျင်၌ပင် ဖြစ်ပေါ်နေခဲ့ပေသည်။ အဆိုပါ မြို့သူမြို့သားများသည် သက်ဆိုင်ရာတမန်တော်များ၏ အဆုံးအမများကို သွေဖည်ငြင်းဆန်မနာခံကြသည့်အခါ ၎င်းတို့၌ ကပ်ဆိုက်ခဲ့ဟန်ရှိသည်။ သို့တည်းမဟုတ် တမန်တော်များ၏ အဆုံးအမများနှင့် စပ်လျဉ်း၍ အချင်းချင်း သဘောထား ကွဲလွဲခဲ့ကြဟန်ရှိသည်။ ယင်းသို့ဖြစ်ရသည်ကို အကြောင်းပြု၍ အဆိုပါ မြို့သူမြို့သားများက၊ တမန်တော်များအား “ငါတို့သည် ယခင်က အေးချမ်းသာယာစွာ ရှိနေခဲ့ကြသည်။ အသင်တို့ရောက်ရှိလာပြီ၊ တရားဟောကြားသည့်အတွက် ယခု ငါတို့၌ ကပ်ဆိုက်ပြီ၊ ငါတို့အချင်းချင်းလည်း သဘောကွဲကုန်ကြရပြီ။ ဤသည်မကောင်းသော အတိတ်နိမိတ်ပင်။ သို့ဖြစ်ရာ အသင်တို့သည် တရားဟောပြောခြင်းကို ပိတ်လိုက်ကြ၊ ဆက်လက်ဟောပြောကြလျှင် ငါတို့သည် အသင်တို့အား အကြီးအကျယ် ဒုက္ခပေးကြမည်။ နောက်ဆုံးခဲများနှင့် ပေါက်၍သတ်ကြမည်”ဟု ကြိမ်းမောင်းခဲ့ကြလေသည်။

قَالُوا طَائِرُكُمْ مَّعَكُمْ أَئِن ذُكِّرْتُم ۚ بَلْ أَنتُمْ قَوْمٌ مُّسْرِفُونَ ⑲

၁၉။ (ထိုအခါ) ရစူလ်တမန်တော်တို့က (ဤသို့) ပြောဆို(ဖြေကြား)ခဲ့ကြကုန်၏။ "အချင်းတို့၊ အသင်တို့၏ မကောင်းသော အတိတ်နိမိတ်သည် အသင်တို့၌ပင် ရှိနေပေသည်။ အသင်တို့ ဆုံးမသြဝါဒပေးခြင်းကို ခံခဲ့ကြရခြင်းသည် (မကောင်းသောအတိတ်နိမိတ်ပင်) ဖြစ်လေသလော။ ထိုသို့အလျှင်းမဟုတ်၊ စင်စစ်မှာကား အသင်တို့သည်သာလျှင် စည်းကမ်းဖောက်ဖျက်သူများ ဖြစ်ကြကုန်သတည်း။" ၁

وَجَاءَ مِنْ أَقْصَا الْمَدِينَةِ رَجُلٌ يَسْعَىٰ قَالَ يَا قَوْمِ اتَّبِعُوا الْمُرْسَلِينَ ⑳

၂၀။ ထိုအခါမြို့၏အစွန်အဖျားမှ လူတစ်ယောက်သည် ပြေး၍လာခဲ့ပြီးလျှင် (ဤသို့) ပြောကြားခဲ့လေ၏။ "အို-ကျွန်ုပ်၏ အမျိုးသားတို့၊ အသင်တို့သည် ရစူလ်တမန်တော်များ၏လမ်းကို လိုက်ကြလေကုန်၊ ၂

اتَّبِعُوا مَن لَّا يَسْأَلُكُمْ أَجْرًا وَهُم مُّهْتَدُونَ ㉑

၂၁။ အသင်တို့ထံမှ မည်သည့်အကျိုး (မည်သည့်အစား)ကိုမျှ တောင်းဆိုခြင်း မပြုကြသည့်ပြင် မိမိတို့ကိုယ်တိုင်လည်း တရားလမ်းမှန်ကို ရရှိသူများ ဖြစ်ကြကုန်သော (ရစူလ်တမန်တော်)တို့၏လမ်းကို အသင်တို့ လိုက်ကြလေကုန်။

---

① အဆိုပါမြို့သားများက တမန်တော်များအား ယင်းသို့ကြိမ်မောင်းကြသည့်အခါ တမန်တော်များက ထိုမြို့သားများအား "အသင်တို့၌ ယခုကဲ့သို့ဖြစ်ရခြင်းမှာ အသင်တို့၏ သွေဖည်ငြင်းဆန် မနာခံမှုကြောင့်သာဖြစ်သည်။ အကယ်၍ အသင်တို့ အားလုံးသည် တညီတညွတ်တည်း ကျွန်ုပ်တို့ဟောပြောသော တရားဒေသနာတော်ကို လက်ခံနာယူ ကျင့်မူကြပါက၊ ယခုကဲ့သို့ ကပ်လည်းဆိုက်မည်မဟုတ်ပေ။ အသင်တို့အချင်းချင်း သဘောကွဲလွဲကြမည်လည်း မဟုတ်ပေ။ သို့ဖြစ်ရာ အသင်တို့ ယခု ကျွန်ုပ်တို့အား စွပ်စွဲပြောဆိုနေကြသော အမင်္ဂလာသည် ကျွန်ုပ်တို့၌ မရှိ၊ အသင်တို့၌သာ ရှိသည်။ ကျွန်ုပ်တို့သည် အသင်တို့အား အသင်တို့အကျိုးငှာ သွန်သင်ဆုံးမသြဝါဒပေးနေကြခြင်းသာ ဖြစ်သည်။ သို့ပါလျက် အသင်တို့သည် ငါတို့အား အမင်္ဂလာ ဟုဆိုလိုကြသည်လော။ မိမိတို့အကျိုးငှာ မိမိတို့အား သွန်သင် ဆုံးမသြဝါဒပေးကြသော မိမိတို့၏ မိတ်ဆွေများကိုပင် သတ်ဖြတ်ရန် ကြိမ်းမောင်းလိုကြသလော" ဟု ပြန်လည်ချေပ နားချခဲ့ကြသည်။

② ဟဗီဗ်၊

မြို့စွန်မှပြေးလာသော ပုဂ္ဂိုလ်မှာ ဆာဟိဗ်ယာစီန်ဟဗီဗ်ဖြစ်သည်။ ထိုပုဂ္ဂိုလ်သည် သူတော်စင်ဖြစ်သည်။ မြို့စွန်၌နေထိုင်သည်။ တရားသဖြင့် စားနပ်ရိက္ခာ ရှာဖွေစားသုံးသည်။ အလ္လာဟ်အရှင်မြတ်အား ခဝပ် ➤➤

وَمَا لِيَ لَآ أَعۡبُدُ ٱلَّذِي فَطَرَنِي وَإِلَيۡهِ تُرۡجَعُونَ ﴿٢٢﴾

၂၂။ ကျွန်ုပ်တွင် မိမိအား ဖန်ဆင်းတော်မူခဲ့သော အရှင်မြတ်အား ဆည်းကပ်ကိုးကွယ်ခြင်းမပြုရန် မည်သည့်အကြောင်း ရှိပါသနည်း။ အမှန်သော်ကား အသင်တို့(အားလုံး)သည် ထိုအရှင်မြတ်အထံတော်သို့ပင် ပြန်လည်ရောက်ရှိကြရပေမည်။

ءَأَتَّخِذُ مِن دُونِهِۦٓ ءَالِهَةً إِن يُرِدۡنِ ٱلرَّحۡمَٰنُ بِضُرّٖ لَّا تُغۡنِ عَنِّي شَفَٰعَتُهُمۡ شَيۡـٔٗا وَلَا يُنقِذُونِ ﴿٢٣﴾

၂၃။ ကျွန်ုပ်သည် ထိုအရှင်မြတ်အား စွန့်၍ အခြားအကြင်ကဲ့သို့သော ကိုးကွယ်ရာများကို (ကိုးကွယ်)ရမည်လော၊ အကယ်၍ "ရဟ်မာန်" အနန္တကရုဏာတော်ရှင်သည် ကျွန်ုပ်တွင် ဘေးအန္တရာယ် တစ်စုံတစ်ရာ သက်ရောက်စေရန် ရည်စူးတော်မူပါလျှင် ယင်းကိုးကွယ်ရာများ၏ ကြားဝင် အသနားခံပေးမှုသည်လည်း ကျွန်ုပ်၏အဖို့ အနည်းငယ်မျှပင် အသုံးကျမည် မဟုတ်ပေ။ ထိုမှတစ်ပါး ၎င်းတို့သည် ကျွန်ုပ်အား လွတ်မြောက်စေနိုင်ကြမည်လည်း မဟုတ်ပေ။

إِنِّيٓ إِذٗا لَّفِي ضَلَٰلٖ مُّبِينٍ ﴿٢٤﴾

၂၄။ ထိုသို့ဖြစ်ခဲ့လျှင် ဧကန်မလွဲ ကျွန်ုပ်သည် ထင်ရှားစွာသော လမ်းမှားမှု၌ (သက်ရောက်သွားပေမည်)။

إِنِّيٓ ءَامَنتُ بِرَبِّكُمۡ فَٱسۡمَعُونِ ﴿٢٥﴾

၂၅။ ဧကန်စင်စစ် ကျွန်ုပ်သည် အသင်တို့ကို ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်အား သက်ဝင်ယုံကြည်ခဲ့ပြီဖြစ်ပေရာ အသင်တို့သည် ကျွန်ုပ်(၏စကား)ကို နားထောင်ကြလေကုန်။

---

➤➤ ကိုးကွယ်လျက်ရှိသည်။ အဆိုပါ မြို့သူမြို့သားများက တမန်တော်များအား သတ်ဖြတ်ရန် ကြိမ်းမောင်းသည့် သတင်းကိုကြားသိသောအခါ၊ တမန်တော်များအား ထောက်ခံရန်နှင့် မြို့သူမြို့သားများ ခြေချော်လက်ချော် ခြေလွန်လက်လွန်ဖြစ်ကုန်ကြမည်ကိုစိုး၍ အချိန်မီ သွန်သင်ဆုံးမနားချနိုင်ရန် ပြေးလာခဲ့ခြင်းဖြစ်သည်။ ထို့နောက် ရှေ့အာယတ်တော်များတွင် လာရှိသည့်အတိုင်းမိမိ၏ အမျိုးသားများအား သွန်သင်ဆုံးမနားချခဲ့လေသည်။

قِيْلَ ادْخُلِ الْجَنَّةَ قَالَ يٰلَيْتَ قَوْمِيْ يَعْلَمُوْنَ ﴿٢٦﴾

၂၆။ အသင်သည် "ဂျန္နတ်" သုခဘုံသို့ ဝင်ရောက်လေလော့ဟု မိန့်ကြားတော်မူခြင်း ခံရလေသောအခါ ထိုသူက ပြောဆိုခဲ့လေ၏။ သြော်-ကျွန်ုပ်၏အမျိုးသားတို့သည် သိရှိကြလျှင် ကောင်းလေစွ။

بِمَا غَفَرَ لِيْ رَبِّيْ وَجَعَلَنِيْ مِنَ الْمُكْرَمِيْنَ ﴿٢٧﴾

၂၇။ ကျွန်ုပ်၏အရှင်မြတ်သည် ကျွန်ုပ်အား ခွင့်လွှတ်ချမ်းသာ ပေးတော်မူခဲ့သည်ကိုလည်းကောင်း၊ ထိုအရှင်မြတ်သည် ကျွန်ုပ်အား ဂုဏ်သိန်ရှိသူတို့တွင် အပါအဝင် ဖြစ်စေတော်မူခဲ့သည်ကို လည်းကောင်း၊ (ကျွန်ုပ်၏အမျိုးသားတို့သည် သိရှိကြလျှင် ကောင်းလေစွတကားဟု ပြောဆိုခဲ့လေသတည်း)။ [၁]

---

(၁) **ဟဗီးဗ်၏ ဆုံးမစကား၊**

သူတော်စင်ကြီးဟဗီးဗ်က မိမိ၏အမျိုးသားများအား ဆက်လက်ဟောကြားခဲ့သည်မှာ "မိမိအား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်အား အဘယ့်ကြောင့် မကိုးကွယ်ရမည်နည်း၊ ကိုးကွယ်ရမည်သာ၊ ထိုအရှင်မြတ်သည် လူသားတို့အား ဖန်ဆင်းတော်မူပြီးနောက် ဘေးမဲ့လွှတ်ထားတော်မူသည်မဟုတ်၊ တစ်ရက်သင်တို့ငါတို့ အားလုံးသည် ထိုအရှင်မြတ်ထံတော်သို့ ပြန်လည်ရောက်ရှိကြရမည်သာ၊ ထိုအရှင်မြတ်ထံတော် ပြန်လည်ရောက်ရှိကြသည့်အခါ စာရင်းအင်းရှင်းဖို့ အရေးကြီးလှသည်။ ထိုအရှင်မြတ်အားစွန့်၍ အဓိပ္ပာယ်မရှိသော အရာများကို ကိုးကွယ်ရမည်လော၊ အလ္လာဟ်အရှင်မြတ် ထံတော်မှ ပြစ်ဒဏ်တစ်စုံတစ်ရာ သက်ရောက်လာခဲ့သည်ရှိသော် ထိုအရာများသည် မိမိတို့ကိုယ်တိုင် ကယ်တင်နိုင်ကြမည်လည်းမဟုတ်၊ ကြားဝင်အသနားခံ ပေးနိုင်ကြသည်လည်း မဟုတ်၊ ထိုသို့အဓိပ္ပာယ်မရှိသော အရာများကိုကိုးကွယ်မိပါက ကျွန်ုပ်သည် လမ်းအမှားကြီးမှားသွားပေမည်"။ သို့ ဆုံးမစကား ပြောကြားပြီးနောက် သူတော်စင်ကြီး ဟဗီးဗ်က တမန်တော်များနှင့် မိမိ၏အမျိုးသားများအား "အသင်တို့ အားလုံး နားထောင်ကြ၊ ကျွန်ုပ်သည် အလ္လာဟ်အရှင်မြတ်အား ယုံကြည်ပါသည်" ဟု အတိအလင်း ကြေညာခဲ့လေသည်။

ယင်းသို့ သူတော်စင်ကြီးဟဗီးဗ်က အလ္လာဟ်အရှင်မြတ်အား မိမိယုံကြည်ကြောင်း အတိအလင်း ကြေညာလိုက်သည့်အခါ ယုတ်မာကြမ်းကြုတ်သော အမျိုးသားများသည် သူတော်စင်ကြီး ဟဗီးဗ်အား ကျောက်ခဲများဖြင့် ရက်စက်စွာ ပစ်ပေါက်ကြလေတော့သည်။ ဤသို့ဖြင့် သူတော်စင်ကြီး ဟဗီးဗ်သည် မိမိအမျိုးသားတို့၏ လက်ချက်ဖြင့် အလ္လာဟ်အရှင်မြတ်၏ လမ်းတော်၌ "ရှဟီးဒ်" ဖြစ်သွား ခဲ့ရရှာလေသည်။ ကွယ်လွန်သေဆုံးသွားခဲ့ရရှာလေသည်။ ထိုသို့ သူတော်စင်ကြီးဟဗီးဗ် ကွယ်လွန်သေဆုံးသွားလျှင်သွားခြင်းပင် အလ္လာဟ်အရှင်မြတ်ထံတော်မှ "အသင် ဂျန္နတ်ဝင်စေ" ဟူသော အမိန့်တော်လည်း ကျရောက်လာခဲ့ပေသည်။

(တမန်တော်မြတ်၏ ဟဒီးစ်သြဝါဒတော်များတွင် လာရှိသည်မှာ၊ ရှဟီးဒ်- အစွလာမ့် အာဇာနည်တို့၏ ဝိညာဉ်များသည် "မဟ်ရှ်ရ်" အလျှင် ဂျန္နတ်သို့ ဝင်ကြရပေသည်။) ➢➢

وَمَآ اَنْزَلْنَا عَلٰى قَوْمِهٖ مِنْۢ بَعْدِهٖ مِنْ جُنْدٍ مِّنَ السَّمَآءِ وَمَا كُنَّا مُنْزِلِيْنَ ﴿٢٨﴾

၂၈။ "ထို့နောက် ငါအရှင်မြတ်သည် ထိုသူ(သေဆုံးပြီး)နောက်တွင် ထိုသူ၏ အမျိုးသားတို့အပေါ်ဝယ် မိုးကောင်းကင်မှ မည်သည့်စစ်တပ်ကိုမျှပင် စေလွှတ်တော်မူခဲ့သည် မဟုတ်ပေ။ ၎င်းပြင် ငါအရှင်မြတ်မှာ စေလွှတ်တော်မူရန်လည်း မလိုပေ။

اِنْ كَانَتْ اِلَّا صَيْحَةً وَّاحِدَةً فَاِذَا هُمْ خٰمِدُوْنَ ﴿٢٩﴾

၂၉။ (စင်စစ် ထိုမြို့သူမြို့သားတို့၌ သက်ရောက်ခဲ့သောပြစ်ဒဏ်မှာ) ပြင်းထန်စွာသော ဟစ်အော်သံ တစ်ခုသာလျှင် ဖြစ်ခဲ့၏။ ထိုအခါ ၎င်းတို့မှာ ရုတ်တရက် ဇိဝိန်ချုပ်ငြိမ်းသွားသူများပင် ဖြစ်ခဲ့ကြကုန်သတည်း။ [၁]

يٰحَسْرَةً عَلَى الْعِبَادِۚ مَا يَاْتِيْهِمْ مِّنْ رَّسُوْلٍ اِلَّا كَانُوْا بِهٖ يَسْتَهْزِءُوْنَ ﴿٣٠﴾

၃၀။ သြော်-အကြင်ကျွန်များ(၏ အခြေအနေမှာ) ဝမ်းနည်းကြေကွဲဖွယ်ရာ ကောင်းလှဘိ၏တကား၊ ၎င်းတို့ထံ မည်သည့် "ရစူလ်" တမန်တော်တစ်ပါးမဆို ရောက်ရှိ၍လာသည်ရှိသော် ၎င်းတို့သည် ထို"ရစူလ်" တမန်တော်အား ပြက်ရယ် ပြောင်လှောင်ခဲ့ကြသည် ချည်းသာဖြစ်၏။

➤➤ ယုတ်မာကြမ်းကြုတ်သော အမျိုးသားများသည် သူတော်စင်ကြီးဟဗီးဗ်အား ရက်စက်စွာ သတ်ဖြတ်ခဲ့ကြလင့်ကစား သူတော်စင်ကြီး ဟဗီးဗ်မှာမူကား ဂျန္နတ်သို့ ဝင်ရောက်ပြီးနောက်သော်မှပင် "သြော် အလ္လာဟ်အရှင်မြတ်သည် ကျွန်ုပ်အား အီမာန်ယုံကြည်မှု၊ တမန်တော်များ၏ အမိန့်နာခံမှုကြောင့် မည်သို့မည်ပုံ လွတ်ငြိမ်းချမ်းသာခွင့်ပေးတော်မူ၍ မည်သို့မည်ပုံ ဂုဏ်အင်ဒြပ် ချီးမြှင့်တော်မူသည်များကို ကျွန်ုပ်၏အမျိုးသားများ သိကြပါလျှင် ကောင်းလေစွတကား" ဟူ၍ သံယောဇဉ်ကြီးစွာဖြင့် ပြောကြားရှာလေသေးသည်။

(၁) **ဟဗီးဗ်၏အမျိုးသားများ ပျက်စီးဆိတ်သုဉ်းကြရပြီ။**

ကျိုးကြောင်းပြ၍ သွန်သင်ဆုံးမသော သူတော်စင်ကြီး ဟဗီးဗ်အားပင် ၎င်း၏အမျိုးသားများက ရက်စက်ကြမ်းကြုတ်စွာ သတ်ဖြတ်လိုက်ကြသည့်အခါ အလ္လာဟ်အရှင်မြတ်သည် ယင်းအမျိုးသားများအား ၎င်းတို့၏ သွေးဖည်ငြင်းဆန်မှု၊ ပြက်ချော်မှု၊ ကျူးကျော်စော်ကားမှုများကြောင့် ကွပ်မျက်တော်မူလိုက်လေသည်။ ယင်းသို့သော သူယုတ်မာများအား ကွပ်မျက်တော်မူရန် အလ္လာဟ်အရှင်မြတ်သည် အထူးအစီအစဉ်များ ပြုလုပ်နေတော်မူရသည်မရှိ။ ကောင်းကင်တမန် စစ်သည်တော်များကို စေလွှတ်တော်မူရန်လည်းမလို၊ အကြောင်းထူး တစ်စုံတစ်ရာ မရှိပါဘဲလျက် ထိုအရှင်မြတ်သည် ကောင်းကင်တမန် စစ်သည်တော်များကို စေလွှတ်တော်မူလေ့လည်း မရှိ၊ အလ္လာဟ်အရှင်မြတ်အဖို့မှာ အလွန့်အလွန်ဆိုးရွားသော လူယုတ်မာအဓိပတိကြီးများကို ကွပ်မျက်တော်မူရန် ➤➤

၃၁။ ငါအရှင်မြတ်သည် ၎င်းတို့အလျှင် မြောက်မြား
စွာသောလူမျိုးဆက်တို့ကို ဖျက်ဆီးတော်မူခဲ့ရာ ထို
ပျက်စီးခဲ့ကြရသော လူမျိုးဆက်တို့မှာ ၎င်းတို့ထံ
ပြန်လာကြမည် မဟုတ်သည်ကို ၎င်းတို့သည် မမြင်ခဲ့
ကြလေသလော။

أَلَمْ يَرَوْا كَمْ أَهْلَكْنَا قَبْلَهُم مِّنَ الْقُرُونِ أَنَّهُمْ إِلَيْهِمْ لَا يَرْجِعُونَ ٣١

၃၂။ ထိုမှတစ်ပါး (၎င်းတို့)အားလုံးတို့သည် ငါ
အရှင်မြတ်အထံတော်သို့ အဆင်သင့် ရောက်ရှိစေခြင်း
ကို ခံကြရမည့်သူများသာ ဖြစ်ကြကုန်သတည်း။

وَإِن كُلٌّ لَّمَّا جَمِيعٌ لَّدَيْنَا مُحْضَرُونَ ٣٢

၃၃။ စင်စစ်သော်ကား ၎င်းတို့အဖို့ သက်သေ လက္ခ
ဏာတစ်ရပ်မှာ (သွေ့ခြောက်လျက်ရှိသော) မြေသေ
ပင်ဖြစ်၏။ ငါအရှင်မြတ်သည် ယင်းမြေသေကို ရှင်
စေတော်မူပြီးနောက် ယင်းမြေမှ ကောက်ပဲသီးနှံကို
ထွက်စေတော်မူခဲ့ရာ ၎င်းတို့သည် ယင်းကောက်ပဲ
သီးနှံများကို စားသုံးလျက် ရှိကြကုန်၏။ [၁]

وَآيَةٌ لَّهُمُ الْأَرْضُ الْمَيْتَةُ أَحْيَيْنَاهَا وَأَخْرَجْنَا مِنْهَا حَبًّا فَمِنْهُ يَأْكُلُونَ ٣٣

၃၄။ ထိုမှတစ်ပါး ငါအရှင်မြတ်သည် ယင်းမြေ၌
စွန်ပလွံခြံများကိုလည်းကောင်း၊ စပျစ်ခြံများကို
လည်းကောင်း၊ စီရင်ပြုလုပ်တော်မူခဲ့သည်သာမက
ယင်းမြေ၌ စိမ့်စမ်းများကိုလည်း စီးဆင်းစေတော်မူခဲ့၏။

وَجَعَلْنَا فِيهَا جَنَّاتٍ مِّن نَّخِيلٍ وَأَعْنَابٍ وَفَجَّرْنَا فِيهَا مِنَ الْعُيُونِ ٣٤

---

➤➤ အသို့မျှ တာဝန်မကြီးလေးပေ၊ သာမန်အသံ တစ်ခုတည်းနှင့်ပင် ကွပ်မျက်တော်မူနိုင်ပေသည်။ သူတော်စင်ကြီး ဟဗီးဗ်၏ အမျိုးသားများသည်လည်း ကြုံးဝါးသံတစ်ခုတည်းဖြင့်ပင် ဇိဝိန်ချုပ်ငြိမ်း၍ အငြိမ်ကြီး ငြိမ်သွားခဲ့ကြလေသည်။

**(၁) မြေသေ ရှင်သကဲ့သို့ လူသေရှင်မည်။**

အထက်တွင် တစ်ရက်လူသားအားလုံးတို့ ပြန်လည်ရှင်ထ၍ အလ္လာဟ်အရှင်မြတ်၏ ရှေ့တော်သို့ ခေါ်ဆောင်ခြင်းခံကြရမည့်အကြောင်း ပါရှိ၏။ ဤအာယတ်တော်တွင် ထိုအရှင်မြတ်သည် မြေသေကို အံ့ဖွယ်သရဲ ရှင်စေတော်မူသည့်အကြောင်း မိန့်ဆိုထားတော်မူသည်။ ဆိုလိုသည်ကား အလ္လာဟ်အရှင်မြတ်သည် မြေသေကို ရှင်စေတော်မူသကဲ့သို့ မြေဖြင့်ပြီးသော လူသေများကိုလည်း ရှင်စေတော်မူမည်ဖြစ်သည်။

ဤအကြောင်း ကုရ်အာန်ကျမ်းမြတ်တွင် အကြိမ်ကြိမ် ပါရှိခဲ့ချေပြီ။ ကြည့်-(၁၆:၆၅။ ၂၂:၅-၇။ ၃၀:၁၉။ ၃၀:၄၈။ ၃၀:၅၀။ ၃၅:၉။)

لِيَأْكُلُوا مِنْ ثَمَرِهِ ۙ وَمَا عَمِلَتْهُ أَيْدِيهِمْ ۖ أَفَلَا يَشْكُرُونَ ﴿٣٥﴾

၃၅။ ၎င်းတို့သည် ယင်းစွန်ပလွံပင် သို့မဟုတ် စပျစ်ပင်၏အသီးများမှစားသုံးအံ့သောငှာ စင်စစ် ထိုအသီးများကို (ကောက်ပဲသီးနှံများကို) ၎င်းတို့၏ လက်များက [(တစ်နည်း) ၎င်းတို့ ကိုယ်တိုင်က] ပြုလုပ်ခဲ့သည် မဟုတ်ပေ။ သို့ပါလျက် ၎င်းတို့သည် ကျေးဇူးမတင်ကြလေသလော။

سُبْحَانَ الَّذِي خَلَقَ الْأَزْوَاجَ كُلَّهَا مِمَّا تُنْبِتُ الْأَرْضُ وَمِنْ أَنْفُسِهِمْ وَمِمَّا لَا يَعْلَمُونَ ﴿٣٦﴾

၃၆။ မြေ၌ ပေါက်ရောက်သော အရာများတွင်လည်းကောင်း၊ ထိုသူတို့ကိုယ်များတွင်လည်းကောင်း၊ ထိုသူတို့မသိကြသောအရာများတွင်လည်းကောင်း၊ ဖို၊မများ၊ စုံတွဲများ အမျိုးမျိုး အစားစား ဖန်ဆင်းထားတော်မူသော အရှင်မြတ်သည် ချို့တဲ့မှုအပေါင်းတို့မှ စင်ကြယ်သန့်ရှင်းတော်မူပါ၏တကား။

وَآيَةٌ لَهُمُ اللَّيْلُ نَسْلَخُ مِنْهُ النَّهَارَ فَإِذَا هُمْ مُظْلِمُونَ ﴿٣٧﴾

၃၇။ ၎င်းပြင် ထိုသူတို့အဖို့ သက်သေလက္ခဏာ တစ်ရပ်မှာ ညဉ့်ပင်ဖြစ်၏။ ငါအရှင်မြတ်သည် ထိုညဉ့်မှ နေ့ကို ချွတ်ခွာ၍ ယူတော်မူ၏။ ထိုအခါ ၎င်းတို့သည် အမှောင်ထဲ၌ ရှိနေကြရကုန်၏။ [၁]

(၁) နေ့နှင့်ည၊

ဤအာယတ်တော်တွင် ပါရှိသော (نَسْلَخُ) "နတ်စ်လခု" ဟူသောပုဒ်သည် (سَلْخٌ) "စလ်ခ်" ဟူသောပုဒ်မှ ဆင်းသက်လာ၏။ "စလ်ခ်" ၏ မူရင်းအနက်မှာ တိရစ္ဆာန်၏ သားရေ (အရေ)ဆုတ်ခြင်း၊ ခွာခြင်း၊ လှာခြင်း၊ လုန်ခြင်းဟူ၍ ဖြစ်သည်။ သားရေခွာလိုက်သည့်အခါ အောက်မှ အသားပေါ်လာသည်။ ထို့အတူ နားလည်သိထားအပ်သည်မှာ ညဉ့်၏အမှောင်သည် မူလပထမဖြစ်သည်။ ယင်းသည့်ညဉ့်၏ အမှောင်တည်းဟူသော အသားပေါ်၌ နေ၏ အလင်းရောင်တည်းဟူသော သားရေက ဖုံးလွှမ်းထားလိုက်သည့်အခါ အလင်းရောင် ပေါ်လာချေသည်၊ နေ့ဖြစ်ပေါ်လာသည်။ တစ်ဖန် အလင်းရောင်တည်းဟူသော သားရေကို ခွာလိုက်သည့်အခါ အောက်မှ အသားတည်းဟူသော အမှောင်သည် ပြန်လည်ပေါ်လာလေသည်။ ညဉ့်ဖြစ်ပေါ်လာသည်။ လူသားတို့သည် အမှောင်တွင်းသို့ သက်ရောက်ကြရသည်။ ဤသို့ဖြင့် နေ့နှင့်ညဉ့်သည် အဆင်ပြေပြေ ဖြစ်ပေါ်လျက်ရှိပေသည်။ ဤသည်လည်း အလ္လာဟ်အရှင်မြတ်၏ သက်သေလက္ခဏာတော် တစ်ပါးပင်။

နေ့နှင့်ညဉ့်၏ စနစ်တကျ ပြောင်းလဲမှုများကို စဉ်းစားဆင်ခြင်ပါက ယင်းသို့နေ့နှင့်ညဉ့်ကို ပြောင်းလဲပေးတော်မူသော အရှင်မြတ်သည် တစ်ရက် ဤစကြာဝဠာကြီးကိုလည်း ရုပ်သိမ်းပြီး ပြန်လည်ဖြစ်ပေါ်စေတော်မူနိုင်သည်ကို နားလည်ရသည်။ နေ့နှင့်ညဉ့်သည် သူ့အချိန်နှင့်သူ ဖြစ်ပေါ်နေသကဲ့သို့ အရာရာသည်လည်း သူ့အချိန်နှင့်သူ ဖြစ်ပေါ်နေသည်ကိုလည်း သိရသည်။

وَالشَّمْسُ تَجْرِي لِمُسْتَقَرٍّ لَّهَا ۚ ذَٰلِكَ تَقْدِيرُ الْعَزِيزِ الْعَلِيمِ ﴿٣٨﴾

၃၈။ ၎င်းပြင် နေသည်(လည်း သက်သေလက္ခဏာ တစ်ရပ်)ပင်။ ထိုနေသည် မိမိ(သွားလာရာ)လမ်း အတိုင်း သွား(လာ)လျက် ရှိနေလေ၏။ ဤသည်ကား အလွန်တရာ နိုင်နင်း လွှမ်းမိုးတော်မူသော အကြွင်းမဲ့ သိရှိတော်မူသော အရှင်မြတ်၏ တိုင်းတာ သတ်မှတ် ချက်ပင် ဖြစ်၏။ [၁]

وَالْقَمَرَ قَدَّرْنَاهُ مَنَازِلَ حَتَّىٰ عَادَ كَالْعُرْجُونِ الْقَدِيمِ ﴿٣٩﴾

၃၉။ ထိုနည်းတူစွာ လသည်(လည်း သက်သေ လက္ခဏာတစ်ရပ်)ပင်။ ငါအရှင်မြတ်သည် ထိုလ၏ အဖို့ ခရီးစခန်းများကို သတ်မှတ်တော်မူခဲ့ရာ နောက်ဆုံး တွင်မူ ထိုလမှာ ခြောက်သွေ့လျက်ရှိသော စွန်ပလွံကိုင်း ကဲ့သို့ ပြန်၍ဖြစ်လာလေ၏။ [၂]

---

① နေ၊

နေသည် မိမိအဖို့ အလ္လာဟ်အရှင်မြတ် သတ်မှတ်ထားတော်မူသည့် လမ်းကြောင်းတွင် သတ်မှတ်ထားတော်မူသည့် ခရီးနှုန်းထားအတိုင်း တိကျမှန်ကန်စွာ သွားလာလှုပ်ရှားလျက် ရှိပေသည်။ သတ်မှတ်ထားတော်မူသည့် လမ်းကြောင်းမှ တစ်လက်မခန့်မျှ တိမ်းစောင်းသည်လည်းမရှိ၊ သတ်မှတ်ထားတော်မူသည့် အချိန်မှ တစ်မိနစ်ခန့်မျှ စောသည်၊နှေးသည် ဟူ၍လည်း မရှိ။ ဤသည် အတိုင်းမသိ ဉာဏ်တော်၊တန်ခိုးတော် ကြီးမားတော်မူသော အလ္လာဟ်အရှင်မြတ်၏ စီမံခန့်ခွဲမှု တစ်ရပ်ပင်။

နေသည် ကိယာမတ် ဖြစ်ခါနီးအချိန်ထိ ဤအတိုင်းပင် သွားလာလှုပ်ရှားလျက် ရှိပေမည်။ ကိယာမတ်ဖြစ်ရန် အချိန် လုံးဝနီးကပ်လာသောအခါ နေသည် အလ္လာဟ်အရှင်မြတ်၏အမိန့်တော်အရ နေဝင်ရာ အနောက်အရပ်မှ ပြောင်းပြန်ပြန်လည်ထွက်လာပေမည်။ ထိုသည့်အချိန်မှစ၍ (တောင်ဗဟ်) ဝန်ချတောင်းပန်ခြင်း၏ တံခါး ပိတ်သွားပေမည်။ (ဝါ) ဝန်ချတောင်းပန်ခွင့် ရှိတော့မည်မဟုတ်ပေ။

② လ၊

လသည်နေကဲ့သို့ပင် သွားလာလှုပ်ရှားလျက်ရှိသည်။ သို့ရာတွင် လသည် နေကဲ့သို့ အမြဲတစေ တစ်မျိုးတစ်စားတည်း တွေ့မြင်နေရသည် မဟုတ်ပေ။ လသည် လဆန်းပက္ခ၌ တရွေ့ရွေ့ကြီး၍ လဆုတ်ပက္ခ၌ တရွေ့ရွေ့ငယ်လာသည်။ ယင်းသို့ နေရာအမျိုးမျိုး ပြောင်းလဲနေရသဖြင့် အသွင်လည်း အစဉ်ပြောင်းလဲလျက် ရှိပေသည်။ အလ္လာဟ်အရှင်မြတ်သည် လအတွက် ခရီးစခန်း (၂၈)ခုကို သတ်မှတ်ထားတော်မူသည်။ လသည် ထိုသည့် ခရီးစခန်းများသို့ အလ္လာဟ်အရှင်မြတ် သတ်မှတ်ထားတော်မူသည့်အတိုင်း တိကျမှန်ကန်စွာ အဆင့်ဆင့် သွားလာလှုပ်ရှားလျက် ရှိပေသည်။

နေနှင့်လသည် (အချိန်ပိုင်းဖြစ်သော) လ၏အဆုံးတွင် တွေ့ဆုံကြသည်။ [နေနှင့်ကမ္ဘာကြားသို့ လရောက်လာသောအခါ ကျွန်ုပ်တို့နှင့် မျက်နှာချင်းဆိုင်အပိုင်းသည် မှောက်လျက်ရှိသဖြင့် လကွယ်ဖြစ်နေသည်။ လူထုသိပ္ပံကျမ်း]။ ထိုအခါ လသည် ကွယ်နေသည်။ လသည် နေ၏ရှေ့သို့ ကျော်လာသည့်အခါ မြင်ရသည်၊➤➤

لَا الشَّمْسُ يَنْۢبَغِيْ لَهَآ اَنْ تُدْرِكَ الْقَمَرَ وَلَا الَّيْلُ سَابِقُ النَّهَارِ ؕ وَكُلٌّ فِيْ فَلَكٍ يَّسْبَحُوْنَ ﴿۴۰﴾

၄၀။ နေသည် လကို မမီနိုင်ပေရာ ထိုနည်းတူစွာ ညဥ့်သည်လည်း နေ့ကို ကျော်လွန်နိုင်သည်မဟုတ်ပေ။ စင်စစ်မှာကား အသီးသီးတို့သည် ဂြိုဟ်နက္ခတ် သွားလာရာလမ်းကြောင်းတစ်ခုစီ၌ ကူးခတ်သွားလာ၍ နေကြကုန်သတည်း။ ၁

وَاٰيَةٌ لَّهُمْ اَنَّا حَمَلْنَا ذُرِّيَّتَهُمْ فِي الْفُلْكِ الْمَشْحُوْنِ ﴿۴۱﴾

၄၁။ ထိုမှတစ်ပါး ၎င်းတို့အဖို့ သက်သေလက္ခဏာ တစ်ရပ်မှာ ဧကန်မလွဲ ငါအရှင်မြတ်သည် ၎င်းတို့၏ သားမြေးတို့အား ဝန်ကုန်အပြည့် တင်ထားသော သင်္ဘောပေါ်၌ တင်ဆောင်စီးနင်း စေတော်မူခြင်းပင် ဖြစ်၏။ ၂

وَخَلَقْنَا لَهُمْ مِّنْ مِّثْلِهٖ مَا يَرْكَبُوْنَ ﴿۴۲﴾

၄၂။ ထိုမှတစ်ပါး ငါအရှင်မြတ်သည် ၎င်းတို့အဖို့ ထိုသင်္ဘောကဲ့သို့သော ၎င်းတို့စီးနင်းကြသော အခြား အရာ (အစီးအနင်း)များကိုလည်း ဖန်ဆင်းထားတော် မူခဲ့၏။

---

➤➤ လဆန်းလာသည်။ အဆင့်ဆင့် ကြီးလာသည်။ (၁၄)ရက်နေ့ညဥ့်တွင် လဝန်းသည် ပြည့်လာသည်။ လပြည့်ကြီး ဖြစ်လာလေသည်။ ထို့နောက်တစ်ဖန် လသည် အဆင့်ဆင့်ငယ်လာပြန်သည်။ နောက်ဆုံးတွင် လသည် စွန်ပလွံကိုင်းခြောက်ပမာ သေးသွယ်သွားလေသည်။ အရောင်လည်း ဖျော့သွားလေသည်။ မှေးမှိန်သွားလေသည်။ ဤသည်လည်း အလ္လာဟ်အရှင်မြတ် ပြထားတော်မူသည့် လက္ခဏာတော်များအနက် လက္ခဏာတော် တစ်ပါးပင်။ ဤအကြောင်းနှင့် ဆက်စပ်၍ ကုရ်အာန်(၁၀:၅)၏ အဖွင့်ကို ပြန်လည်ရှုပါကုန်။

① **ဂြိုဟ်များ စနစ်တကျ သွားလာလျက်ရှိခြင်း၊**

နေသည်လကိုမီသည်မဟုတ်၊ ညဥ့်သည် နေ့ကိုကျော်သည်မရှိ။ နေ့သည်ကျော်၍ ညဥ့်တွင် ဝင်လာသည်လည်း မရှိ။ နေ့မကုန်မီ ညဥ့်ရောက်လာသည်လည်း မရှိ။ နေနှင့်လ၊ နေ့နှင့်ညသည် သူ့ကဏ္ဍနှင့်သူ၊ သူ့အချိန်နှင့်သူ၊ စနစ်တကျ တိကျမှန်ကန်စွာ သွားလာဝင်ထွက် လှုပ်ရှားလျက် ရှိကြပေသည်။ ထို့အတူ ဂြိုဟ်နက္ခတ် အားလုံးတို့သည်လည်း ကိုယ့်အချိန်နှင့်ကိုယ်၊ ကိုယ့်နေရာနှင့်ကိုယ်၊ ကိုယ့်လမ်းနှင့်ကိုယ် စနစ်တကျ သွားလာဝင်ထွက် လှုပ်ရှားလျက်ရှိကြပေသည်။ ဂြိုဟ်များသည် ကျယ်ဝန်းလှသော လဟာပြင်၌ လျင်မြန်စွာ သွားလာ လှုပ်ရှားနေကြပါလျက် တစ်ခုနှင့်တစ်ခု တိုက်ခိုက်မိသည်ဟူ၍ကား အလျှင်းမရှိ။ ဤသည်လည်း အလ္လာဟ်အရှင်မြတ်၏ လက္ခဏာတော်တစ်ပါးပင်။ နေ့နှင့်ညဥ့်၊ နေနှင့်လကို ယင်းသို့ ပြောင်းလဲပေးနေတော်မူသော အရှင်မြတ်အဖို့ လူသားတို့အား သေစေတော်မူပြီးနောက် တစ်ဖန် ပြန်လည်ရှင်ထစေတော်မူရန်မှာ အသို့လျှင် အခက်အခဲရှိနိုင်အံ့နည်း။

وَإِن نَّشَأْ نُغْرِقْهُمْ فَلَا صَرِيخَ لَهُمْ وَلَا هُمْ يُنقَذُونَ ﴿٤٣﴾

၄၃။ စင်စစ်သော်ကား အကယ်၍သာ ငါအရှင်မြတ်သည် အလိုရှိတော်မူပါလျှင် ၎င်းတို့အား နစ်မြုပ်တော်မူပေမည်။ သို့နစ်မြုပ်တော်မူခဲ့လျှင် ၎င်းတို့အား ကူညီရိုင်းပင်းမည့်သူဟူ၍လည်း တစ်ဦးတစ်ယောက်မျှ ရှိလိမ့်မည်မဟုတ်ပေ။ ၎င်းတို့သည် လွတ်မြောက်စေခြင်း ခံကြရမည်လည်း မဟုတ်ပေ။

إِلَّا رَحْمَةً مِّنَّا وَمَتَاعًا إِلَىٰ حِينٍ ﴿٤٤﴾

၄၄။ (စင်စစ်) ငါအရှင်မြတ်သည် မိမိကရုဏာတော်အားဖြင့်လည်းကောင်း၊ သတ်မှတ်ပြီးဖြစ်သောအချိန်ကာလတိုင်အောင် အကျိုးခံစားစေခြင်းအားဖြင့်လည်းကောင်း၊ (ကယ်တင်ထားတော်မူခြင်းသာလျှင်) ဖြစ်ပေသတည်း။ (တစ်နည်း) သို့ရာတွင် (ဤသည်) ငါအရှင်မြတ်၏ ကရုဏာတော်ပင်ဖြစ်၏။ ထိုမှတစ်ပါး (၎င်းတို့အား) သတ်မှတ်ပြီးဖြစ်သော အချိန်ကာလတိုင်အောင် အကျိုးခံစားစေခြင်းလည်းဖြစ်ပေသတည်း။

---

(၂) သင်္ဘော၊

ဆိုလိုသည်ကား- တမန်တော် နူးဟ်လက်ထက်တွင် ရေဘေးကြီး ဆိုက်ရောက်လာခဲ့သည့်အခါ အလ္လာဟ်အရှင်မြတ်သည် တမန်တော်နူးဟ်အား သင်္ဘောဆောက်လုပ်စေတော်မူပြီး ယင်းသင်္ဘောပေါ်တွင် မိမိတင်ဆောင်စေတော်မူလိုသော လူသားတို့အား တင်ဆောင်စေတော်မူခဲ့သည်။ သို့မဟုတ်ပါက လူဆက်သည် ပြတ်သွားခဲ့ပေမည်။ ထို့နောက် အလ္လာဟ်အရှင်မြတ်သည် လူသားတို့ စီးနင်းသွားလာနိုင်ကြရန်အလို့ငှာ ထိုသင်္ဘောကဲ့သို့ပင် အခြားသင်္ဘောများကို ပြုလုပ်ပေးတော်မူခဲ့ပေသည်။ သို့တည်းမဟုတ် လူသားတို့ စီးနင်းသွားလာနိုင်ကြရန်အလို့ငှာ ထိုသင်္ဘောအလား အခြားအစီးအနင်းများကို ပြုလုပ်ပေးတော်မူခဲ့ပေသည်။ ဥပမာ-ကုလားအုတ်၊ ယင်းသည့် ကုလားအုတ်များကို အရဗ်တို့သည် "စဖာအ်နု-အလ်ဗရ်ရိ" ကြည်းသင်္ဘောများဟု ခေါ်ဝေါ်သမုတ်လေ့ရှိကြပေသည်။ ဤသည်လည်း အလ္လာဟ်အရှင်မြတ်၏ သက်သေလက္ခဏာတော်တစ်ပါးပင် ။

ရေကြောင်းခရီးများတွင် စီးနင်းသွားလာနိုင်ရန်အလို့ငှာ လူသားတို့နှင့် လျော်ကန်သင့်မြတ်သော သင်္ဘောများဆောက်လုပ် မောင်းနှင်ရန်အသိဉာဏ်ကို အလ္လာဟ်အရှင်မြတ်သည်ပင်လျှင် ထည့်သွင်းပေးထားတော်မူခြင်း ဖြစ်သည်။

ဤအာယတ်တော်တွင် ပါရှိသော "ကုန်စည်အပြည့် တင်ဆောင်ထားသောသင်္ဘော" ဟူသည် ရေကြောင်းကုန်သွယ်ရေးကို ဆိုလိုသည်။ "ထိုသင်္ဘောကဲ့သို့သော အရာများ"ဟူသော စကားတွင် သင်္ဘောအမျိုးအစား အားလုံး အကျုံးဝင်သည်သာမက မီးရထား၊ မော်တော်ကား၊ လေယာဉ်ပျံ စသည့် အစီးအနင်းအားလုံးတို့သည်လည်း အကျုံးဝင်ပေသည်။ ကြည့်-မာဂျိဒီ။

وَإِذَا قِيلَ لَهُمُ اتَّقُوا مَا بَيْنَ أَيْدِيكُمْ وَمَا خَلْفَكُمْ لَعَلَّكُمْ تُرْحَمُونَ ﴿٤٥﴾

၄၅။ သို့ရာတွင် ၎င်းတို့အား အသင်တို့သည် ကရုဏာပြုတော်မူခြင်း ခံကြရအံ့သောငှာ မိမိတို့၏ ရှေ့မှောက်၌ရှိသော (ပြစ်ဒဏ်)ကိုလည်းကောင်း၊ မိမိတို့၏ နောက်၌ရှိသော ပြစ်ဒဏ်ကိုလည်းကောင်း၊ ကြောက်ရွံ့ စိုးရိမ်ကြလေကုန်ဟု ပြောခဲ့သောအခါ (၎င်းတို့သည် မျက်နှာလွှဲခဲ့ကြကုန်၏)။

وَمَا تَأْتِيهِم مِّنْ آيَةٍ مِّنْ آيَاتِ رَبِّهِمْ إِلَّا كَانُوا عَنْهَا مُعْرِضِينَ ﴿٤٦﴾

၄၆။ စင်စစ် ၎င်းတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၏ အမိန့်တော်များအနက် အမိန့်တော် တစ်ပါးပါးသည် ၎င်းတို့ထံ ရောက်ရှိ၍ လာတိုင်းပင်၊ ၎င်းတို့သည် ယင်းအမိန့်တော်ဘက်မှ မျက်နှာလွှဲခဲ့ကြသည်သာ ဖြစ်၏။

وَإِذَا قِيلَ لَهُمْ أَنفِقُوا مِمَّا رَزَقَكُمُ اللَّهُ قَالَ الَّذِينَ كَفَرُوا لِلَّذِينَ آمَنُوا أَنُطْعِمُ مَن لَّوْ يَشَاءُ اللَّهُ أَطْعَمَهُ إِنْ أَنتُمْ إِلَّا فِي ضَلَالٍ مُّبِينٍ ﴿٤٧﴾

၄၇။ ထိုမှတစ်ပါး ၎င်းတို့အား အသင်တို့သည် မိမိတို့အား အလ္လာဟ်အရှင်မြတ် ချီးမြှင့်ပေးသနားတော်မူခဲ့သည်များအနက်မှ သုံးစွဲ လှူဒါန်းကြလေကုန်ဟု ပြောဆိုသောအခါ "ကာဖိရ်" သွေဖည်ငြင်းပယ်သော သူတို့က "အလ္လာဟ်အရှင်မြတ်သည် အကယ်၍ အလိုရှိတော်မူပါလျှင် ကိုယ်တော်တိုင် ကျွေးမွေးတော်မူမည်ဖြစ်သောသူတို့အား ကျွန်ုပ်တို့က ကျွေးမွေးကြရမည်လော၊ အသင်တို့သည် ထင်ရှားစွာသောလမ်းမှား မှု၌ ရှိနေကြသည်" ဟု မုအ်မင်န်သက်ဝင်ယုံကြည်သူတို့အား ပြောဆို(ဖြေကြား)ကြကုန်သတည်း။ [၁]

---

(၁) **ကာဖိစ်ရ်တို့၏ ယုတ်မာရိုင်းပြမှု၊**

ကာဖိရ်များအား အသင်တို့သည် မိမိတို့အား အလ္လာဟ်အရှင်မြတ် ချီးမြှင့် ပေးသနားထားတော်မူသော ဥစ္စာပစ္စည်းများအနက်မှ အချို့အဝက်ကို ထိုအရှင်မြတ်၏ လမ်းတော်၌ ဆင်းရဲသူ၊ ဆင်းရဲသားများအား ပေးကမ်း လှူဒါန်းကြပါဟု ပြောဆိုလျှင် ယင်းကာဖိရ်များက (ယင်းသို့ ပေးကမ်းလှူဒါန်းခြင်းကို ၎င်းတို့ကိုယ်တိုင် ကောင်းမြတ်သော အလုပ်ဟူ၍ လက်ခံကြပါလျက်၊ လက်ခံကြသည်သာမက ယင်းသို့ ပေးကမ်းလှူဒါန်းခြင်းကိုပင် ဂုဏ်ယူဝါကြွားကြပါလျက်) ထိုသို့ ပေးကမ်းလှူဒါန်းရန် လာရောက်ပြောဆိုကြသော မုစ်လင်မ်တို့အား ➢➢

وَيَقُولُونَ مَتَىٰ هَٰذَا الْوَعْدُ إِن كُنتُمْ صَادِقِينَ ﴿٤٨﴾

၄၈။ ထို့ပြင် ၎င်းတို့က "အကယ်၍ အသင်တို့သည် သစ္စာဝါဒီများ ဖြစ်ကြလျှင် ဤချိန်းဆိုချက်သည် မည်သည့်အခါ၌ ဖြစ်မြောက်လတ္တံ့ဟု မေးမြန်းကြကုန်၏။

مَا يَنظُرُونَ إِلَّا صَيْحَةً وَاحِدَةً تَأْخُذُهُمْ وَهُمْ يَخِصِّمُونَ ﴿٤٩﴾

၄၉။ (စင်စစ်သော်ကား) ၎င်းတို့သည် မိမိတို့အား ဖမ်းဆီးကွပ်မျက်အံ့သော ပြင်းထန်စွာ ဟစ်အော်သံ တစ်ခုကိုသာလျှင် စောင့်မျှော်၍ နေကြကုန်၏။ ထိုအခါ၌ ၎င်းတို့သည် မိမိတို့ အချင်းချင်း အငြင်းပွားလျက်ပင် ရှိကြပေမည်။

فَلَا يَسْتَطِيعُونَ تَوْصِيَةً وَلَا إِلَىٰ أَهْلِهِمْ يَرْجِعُونَ ﴿٥٠﴾

၅၀။ သို့ဖြစ်ရာ ၎င်းတို့သည် တစ်စုံတစ်ရာသော သေတမ်းစကားကို မှာကြားနိုင်ကြမည် မဟုတ်ပေ။ မိမိတို့၏ အိမ်သူအိမ်သားတို့ထံ ပြန်သွားနိုင်ကြမည်လည်း မဟုတ်ပေ။ [၁]

وَنُفِخَ فِي الصُّورِ فَإِذَا هُم مِّنَ الْأَجْدَاثِ إِلَىٰ رَبِّهِمْ يَنسِلُونَ ﴿٥١﴾

၅၁။ ထို့ပြင် တံပိုးခရာမှုတ်သောအခါ ရုတ်တရက် ၎င်းတို့သည် သင်္ချိုင်းများမှထွက်၍ မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ် အထံတော်သို့ လျင်မြန်စွာ လာကြပေမည်။

---

➤➤ "အလ္လာဟ်အရှင်မြတ် အလိုတော်ရှိပါလျှင် ထိုအရှင်မြတ်ကိုယ်တော်တိုင် ကျွေးမွေးတော်မူနိုင်သော သူများအား ကျွန်ုပ်တို့က ကျွေးမွေးကြရမည်လော၊ အသင်တို့သည် အထင်အရှား လွဲမှားနေကြပြီ" ဟူ၍ပင် ယုတ်မာရိုင်းပြစွာ ပြောဆိုကြပေသည်။ ကြည့်-ထာနဝီ။

(၁) **ကိယာမတ်သည် ရုတ်တရက် ဆိုက်ရောက်လာမည်၊**

ကာဖိရ်များက မုစ်လင်မ်တို့အား အသင်တို့ ပြောဆိုခြိမ်းခြောက်နေကြသည့် ကိယာမတ်နှင့်ပြစ်ဒဏ်သည် အဘယ်အခါဖြစ်အံ့နည်းဟု မိုက်မဲစွာ မေးကြပေသည်။ အမှန်မှာ ကိယာမတ်သည် ရုတ်တရက် ဆိုက်ရောက်လာပေမည်။ ထိုအချိန်တွင်၎င်းတို့သည် မိမိတို့၏ လုပ်ငန်းဆောင်တာများတွင် လုံးပန်းလျက် ရှိကြပေမည်။ အချင်းချင်း အငြင်းပွားလျက် ရှိကြပေမည်။ ပထမတံပိုး မှုတ်လိုက်သည့်အခါ အားလုံးသေသွားကြပေမည်။ တစ်စုံတစ်ရာ ပြောဆိုမှာကြားခွင့်ပင် ရရှိလိုက်ကြမည် မဟုတ်ပေ။ အိမ်အပြင်သို့ ရောက်ရှိနေကြပါက မိမိတို့၏ အိမ်သူ အိမ်သားများ ထံသို့ပင် ပြန်လာနိုင်ကြမည် မဟုတ်ပေ။

قَالُوا يٰوَيْلَنَا مَنْ بَعَثَنَا مِنْ مَّرْقَدِنَا ۜ هٰذَا مَا وَعَدَ الرَّحْمٰنُ وَصَدَقَ الْمُرْسَلُوْنَ ﴿٥٢﴾

၅၂။ ၎င်းတို့က "သြော်-ငါတို့သည် အကျိုးနည်းကြရလေခြင်း။ မည်သူသည် ငါတို့အား ငါတို့၏ အိမ်ရာမှ ထစေသနည်း" ဟု ပြောဆိုညည်းညူကြပေမည်။ (ထိုအခါ "မလာအိကဟ်" ကောင်းကင်တမန်များက ဖြေကြားကြပေမည်။) ဤသည် "ရဟ်မာန်" အနန္တကရုဏာတော်ရှင် ချိန်းချက်ထားတော်မူခဲ့သော ချိန်းချက်ပင်ဖြစ်၏။ စင်စစ် ရစူလ်တမန်တော်များသည် မှန်ကန်စွာ ပြောကြားခဲ့ကြပေသည်။

إِنْ كَانَتْ إِلَّا صَيْحَةً وَّاحِدَةً فَإِذَا هُمْ جَمِيْعٌ لَّدَيْنَا مُحْضَرُوْنَ ﴿٥٣﴾

၅၃။ ယင်း(တပိုးခရာမှုတ်ခြင်း)မှာ ပြင်းထန်စွာ ဟစ်အော်သံတစ်ခုမျှသာလျှင် ဖြစ်ပေမည်။ ထိုအခါ ရုတ်တရက် ၎င်းတို့အားလုံးသည် (တစ်ယောက်မကျန်) ငါအရှင်မြတ်အထံတော်သို့ ခေါ်ဆောင်လာခြင်းကို ခံကြရပေမည်။

فَالْيَوْمَ لَا تُظْلَمُ نَفْسٌ شَيْـًٔا وَّلَا تُجْزَوْنَ إِلَّا مَا كُنْتُمْ تَعْمَلُوْنَ ﴿٥٤﴾

၅၄။ သို့ဖြစ်ရာ ယနေ့သော်ကား မည်သူတစ်ဦးတစ်ယောက်မျှပင် အနည်းငယ် စိုးစဉ်းမျှပင် မတရားပြုမူခြင်းကို ခံရမည်မဟုတ်ပေ။ ထိုမှတစ်ပါး အသင်တို့သည် မိမိတို့ ကျင့်မူခဲ့ကြသော အမှုကိစ္စတို့၏ အစားပေးခြင်းကိုသာလျှင် ခံကြရကုန်အံ့သတည်း။ [၁]

---

(၁) **ကိယာမတ်နေ့တွင် ကာဖစ်ရ်တို့၏ဖြစ်အင်၊**

ဒုတိယအကြိမ် တံပိုးမှုတ်လိုက်သည့်အခါ အားလုံးတို့သည် သင်္ချိုင်းများမှ အသီးသီး ရှင်ပြန်ထပြီး စာရင်းအင်းရှင်းရန် အလ္လာဟ်အရှင်မြတ်ထံတော်သို့ လျှင်မြန်စွာ ထွက်လာကြရပေမည်။ ထိုအခါကာဖိရ်များသည် "သြော်- ငါတို့ ပျက်စီးကြရပြီ၊ ငါတို့အား သင်္ချိုင်းများမှ မည်သူနှိုးသနည်း" ဟု ညည်းညူကြပေမည်။ ထိုအခါ ကောင်းကင်တမန်များက ဤသည် မဟာကရုဏာရှင် ချိန်းချက်ထားတော်မူသည့် ကိယာမတ်ပင်။ ဤအကြောင်းနှင့် စပ်လျဉ်း၍ တမန်တော်များကလည်း အသီးသီး အမှန်အကန် ပြောဆိုသတိပေးခဲ့ကြပေသည်။ သို့သော် အသင်တို့သည် မနာခံခဲ့ကြပေ။ ယနေ့မူကား အသင်တို့သည် မိမိတို့ ပြုမူခဲ့ကြသည်များနှင့် အမျှသာ အစားပေးခြင်း ခံကြရပေမည်။ မည်သူ တစ်ဦးတစ်ယောက်မျှ မတရားပြုမူခြင်း ခံရမည်မဟုတ်ဟု ပြောဆိုကြပေမည်။

ဤကား ကိယာမတ်နေ့တွင် ကာဖိရ်တို့၏ ဖြစ်အင်တည်း။ ကိယာမတ်နေ့တွင် မုအ်မင်န်တို့၏ ဖြစ်အင်များကို ရှေ့တွင် မိန့်ဆိုထားတော်မူသည်။

إِنَّ أَصْحَابَ الْجَنَّةِ الْيَوْمَ فِي شُغُلٍ فَاكِهُونَ ٥٥

၅၅။ ဧကန်မလွဲ "ဂျန္နတ်" သုခဘုံသားတို့သည် ယနေ့ (မိမိတို့၏)အရေးကိစ္စများမှ မွေ့လျော် ရွှင်ပျော်လျက် ရှိကြပေမည်။

هُمْ وَأَزْوَاجُهُمْ فِي ظِلَالٍ عَلَى الْأَرَائِكِ مُتَّكِئُونَ ٥٦

၅၆။ ၎င်းတို့နှင့် ၎င်းတို့၏ ကြင်ရာကြင်ဖက်တို့သည် အရိပ်အာဝါသများအောက်တွင် သလွန်များထက်ဝယ် မှီအုံးများကို မှီအုံးလျက် ထိုင်နေကြပေမည်။

لَهُمْ فِيهَا فَاكِهَةٌ وَلَهُمْ مَا يَدَّعُونَ ٥٧

၅၇။ ၎င်းတို့အဖို့ ယင်း"ဂျန္နတ်"သုခဘုံ၌ (အမျိုးမျိုးသော) သစ်သီးဝလံများလည်း ရှိကြပေမည်။ ၎င်းတို့အဖို့ ၎င်းတို့တောင်းသမျှသော အရာများလည်း ရှိကြပေမည်။

سَلَامٌ قَوْلًا مِنْ رَبٍّ رَحِيمٍ ٥٨

၅၈။ ဖန်ဆင်းမွေးမြူတော်မူသော အလွန်တရာ သနားကြင်နာတော်မူသော အရှင်မြတ်အထံတော်မှ "စလာမ်" (ချမ်းမြေ့သာယာစေ)ဟူ၍ မိန့်ကြားတော်မူအံ့သတည်း။ ၁

وَامْتَازُوا الْيَوْمَ أَيُّهَا الْمُجْرِمُونَ ٥٩

၅၉။ ၎င်းပြင် (အလ္လာဟ်အရှင်မြတ်သည် ဤသို့ မိန့်ကြားတော်မူပေမည်) အို-အပြစ်ရှိသူအပေါင်းတို့၊ အသင်တို့သည် ယနေ့ တသီးတခြားနေကြကုန်လော့။

---

၁ ဂျန္နတ်သည် အမတသုခဘုံဖြစ်သည်။ "ဂျန္နတ်"တွင် သုခချမ်းသာရှိသည်။ ဒုက္ခဟူ၍ အလျှင်းမရှိ။ ဂျန္နတ်သားတို့သည် ဂျန္နတ်တွင် မိမိတို့၏ မွေ့လျော်ဖွယ်ရာများ၌ အမြဲထာဝစဉ် ပျော်ရွှင်ကြည်နူးလျက် ရှိကြပေမည်။ ဂျန္နတ်သားတို့သည် မိမိတို့၏ ကြင်ရာများနှင့်အတူ အရိပ်အာဝါသများအောက်တွင် ပလ္လင်များထက်ဝယ် မှီအုံးများ မှီလျက်ရှိကြပေမည်။ ဂျန္နတ်တွင် သီးနှံမျိုးစုံလည်း ရှိပေမည်။ ထို့ပြင်တစ်ဝ အလိုရှိသမျှ လိုတရရှိကြပေမည်။ ထို့ပြင်တစ်ဝ အလ္လာဟ်အရှင်မြတ် ကိုယ်တော်တိုင် ဂျန္နတ်သားတို့အား "စလာမ်" ချမ်းမြေ့သာယာအဖြာဖြာ သက်ရောက်ပါစေဟူ၍ မေတ္တာပို့သတော် မူဦးမည်လည်း ဖြစ်ပေသည်။ (အလ္လာဟ်အရှင်မြတ်သည် ကျွန်တော်မျိုးတို့အားလည်း မိမိ၏ကျေးဇူးတော်ဖြင့် မိမိ၏ဂျန္နတ်တော်တွင် ဝင်ခွင့်ပြုတော်မူပါစေသတည်း)။

أَلَمْ أَعْهَدْ إِلَيْكُمْ يَٰبَنِىٓ ءَادَمَ أَن لَّا تَعْبُدُوا۟ ٱلشَّيْطَٰنَ ۖ إِنَّهُۥ لَكُمْ عَدُوٌّ مُّبِينٌ ﴿٦٠﴾

၆၀။ အို-"အာဒမ်"၏သားသမီးအပေါင်းတို့၊ ငါ အရှင်မြတ်သည် အသင်တို့အား (ကြပ်ကြပ်) သတိပေးတော်မူခဲ့သည်မဟုတ်လော။ အသင်တို့သည် "ရှိုင်တွာန်" မိစ္ဆာကောင်အား ဆည်းကပ်ကိုးကွယ်ခြင်း မပြုကြကုန်လင့်၊ စေန်မလွဲ "ရှိုင်တွာန်" မိစ္ဆာကောင်သည် အသင်တို့၏ ထင်ရှားသော ရန်သူပင် ဖြစ်ပေသည်။

وَأَنِ ٱعْبُدُونِى ۚ هَٰذَا صِرَٰطٌ مُّسْتَقِيمٌ ﴿٦١﴾

၆၁။ ထို့ပြင် အသင်တို့သည် ငါအရှင်မြတ်အား သာလျှင် ဆည်းကပ်ကိုးကွယ်ကြလေကုန်၊ ဤသည် သာလျှင် ဖြောင့်မတ်မှန်ကန်သော တရားလမ်းဖြစ်၏။

وَلَقَدْ أَضَلَّ مِنكُمْ جِبِلًّا كَثِيرًا ۖ أَفَلَمْ تَكُونُوا۟ تَعْقِلُونَ ﴿٦٢﴾

၆၂။ ထို့ပြင် မချွတ်မလွဲ ထို "ရှိုင်တွာန်" မိစ္ဆာကောင်သည် အသင်တို့အနက် မြောက်များစွာသော အဖန်ဆင်းခံတို့အား လမ်းလွဲစေခဲ့လေပြီ။ သို့ပါလျက် အသင်တို့သည် (ဤမျှပင်) မသိ နားမလည်ခဲ့ကြလေသလော။ ၁

هَٰذِهِۦ جَهَنَّمُ ٱلَّتِى كُنتُمْ تُوعَدُونَ ﴿٦٣﴾

၆၃။ ဤသည် အသင်တို့ ကတိပေးချိန်းဆိုခြင်း ခံခဲ့ကြရကုန်သော "ဂျဟန္နမ်" ငရဲဘုံပင် ဖြစ်၏။

---

(၁) <u>မုအ်မင်န်နှင့် ကာဖိရ်၏ တသီးတခြား၊</u>

မုအ်မင်န်တို့သည် ဂျန္နတ်တွင်စံမြန်းကြရမည်။ ကာဖိရ်တို့သည် ဂျဟန္နမ်သို့လားကြရမည်။ မုအ်မင်န်နှင့်ကာဖိရ်သည် အတူမနေအပ်၊ တခြားစီ ဖြစ်ကြရမည်သာ။ ကိယာမတ်နေ့တွင် အလ္လာဟ်အရှင်မြတ်က အို-ပြစ်မှုကျူးလွန်သူ အပေါင်းတို့၊ အသင်တို့သည် (မုအ်မင်န်များနှင့်) တစ်သီးတခြားနေကြ၊ (အို-လူသားတို့) ငါအရှင်မြတ်သည် အသင်တို့အား ရှိုင်တွာန်ကို မကိုးကွယ်ကြရမည့်အကြောင်း၊ ရှိုင်တွာန်သည် အသင်တို့၏ ထင်ရှားသော ရန်သူဖြစ်ကြောင်း၊ သူသည် များစွာသောလူသားတို့အား လွဲမှားစေခဲ့ပြီးဖြစ်ကြောင်း၊ ငါအရှင်မြတ်အား သာ ကိုးကွယ်ကြရမည့်အကြောင်း၊ ဤသည်သာ ဖြောင့်မတ်သော လမ်းစဉ်ဖြစ်ကြောင်း သတိပေးတော်မူခဲ့သည် မဟုတ်ပါသလော၊ အသင်တို့သည် ဤမျှပင် အသိမရှိကြလေသလောဟု မိန့်ကြားတော်မူပေမည်။ ယင်းသို့ အကြိမ်ကြိမ် သတိပေးတော်မူပါလျက် ကာဖိရ်များသည် ရှိုင်တွာန်အား ကိုးကွယ်ခဲ့ကြသည်ဖြစ်ရာ ရှိုင်တွာန်နှင့်အတူ ဂျဟန္နမ်သို့ လားကြရမည်သာ ဖြစ်ပေသည်။ ဤကား မည်သူမပြုမိမိမှုပင်။ (ရှေ့တွင် ကာဖိရ်များ ဂျဟန္နမ်သို့ လားကြရမည့်အကြောင်းကို မိန့်ဆိုထားတော်မူသည်။)

اِصْلَوْهَا الْيَوْمَ بِمَا كُنْتُمْ تَكْفُرُوْنَ ﴿٦٤﴾

၆၄။ အသင်တို့သည် မိမိတို့ မယုံမကြည် သွေဖည်ငြင်းပယ်လျက်ရှိခဲ့ကြသောကြောင့် ယနေ့ ထို"ဂျဟန္နမ်"ငရဲဘုံသို့ လားကြကုန်လော့။

اَلْيَوْمَ نَخْتِمُ عَلٰٓى اَفْوَاهِهِمْ وَتُكَلِّمُنَآ اَيْدِيْهِمْ وَتَشْهَدُ اَرْجُلُهُمْ بِمَا كَانُوْا يَكْسِبُوْنَ ﴿٦٥﴾

၆၅။ ယနေ့သော်ကား ငါအရှင်မြတ်သည် ၎င်းတို့၏ နှုတ်များပေါ်၌ တံဆိပ်ခတ်နှိပ်တော်မူမည်။ ထို့ပြင် ၎င်းတို့၏ လက်များသည် ငါအရှင်မြတ်နှင့် စကားပြောဆိုကြပေမည်။ ထို့မှတစ်ပါး ၎င်းတို့၏ ခြေများသည် ၎င်းတို့ ပြုလုပ်ဆည်းပူးခဲ့သမျှတို့ကို သက်သေခံကြပေမည်။ (တစ်နည်း) ထိုအခါ ၎င်းတို့ဆည်းပူးခဲ့သမျှတို့ကို ၎င်းတို့၏လက်များက ငါအရှင်မြတ်အား လျှောက်ထားကြ၍ ၎င်းတို့၏ ခြေများက သက်သေခံကြပေမည်။

وَلَوْ نَشَآءُ لَطَمَسْنَا عَلٰٓى اَعْيُنِهِمْ فَاسْتَبَقُوا الصِّرَاطَ فَاَنّٰى يُبْصِرُوْنَ ﴿٦٦﴾

၆၆။ စင်စစ်သော်ကား အကယ်၍သာ ငါအရှင်မြတ်သည် အလိုရှိတော်မူပါလျှင် (လူ့လောက၌ပင်) ၎င်းတို့၏ မျက်စိများကို ကွယ်ပျောက်စေတော်မူခဲ့ပေမည်။ ထိုအခါ ၎င်းတို့သည် လမ်းသို့ ပြေးကြပေမည်။ သို့ရာတွင် ၎င်းတို့သည် အဘယ်မှာလျှင် မြင်ကြပေမည်နည်း။ [၁]

---

(၁) ဆိုလိုသည်ကား ကာဖိရ်များသည် အလ္လာဟ်အရှင်မြတ်၏ သက်သေလက္ခဏာတော်များကို ဂရုမမူခဲ့ကြပေ။ မျက်စိမှိတ်ထားခဲ့ကြပေသည်။ အလ္လာဟ်အရှင်မြတ်သည် အလိုတော်ရှိတော်မူပါက ယင်းသို့ မျက်စိပိတ်ထားခဲ့ကြသော ကာဖိရ်များအား ပြစ်ဒဏ်ခတ်တော် မူသည့်အနေဖြင့် ဤပစ္စက္ခမှာပင် ၎င်းတို့၏ မျက်စိများကို ဖျက်ဆီးပစ်တော်မူနိုင်သည်။ ထို့အတူ ကာဖိရ်များသည် ရှိုင်တွာန်၏လမ်းပေါ်၌သာ လျှောက်ခဲ့ကြပေသည်။ အလ္လာဟ်အရှင်မြတ်၏ လမ်းပေါ်၌ မလျှောက်ခဲ့ကြပေ။ ထိုအရှင်မြတ်သည် အလိုတော်ရှိတော်မူပါက ၎င်းတို့အား ရုပ်ပျက်ဆင်းပျက်ဖြစ်အောင် ပြုလုပ်တော်မူနိုင်ပေသည်။ လုံးဝမသန်စွမ်းအောင် ပြုလုပ်တော်မူနိုင်ပေသည်။ သို့ပြုလုပ်တော်မူလိုက်ပါလျှင် ၎င်းတို့သည် မျက်ကန်းများ၊ ရုပ်ပျက်ဆင်းပျက်များ၊ လုံးဝမသန်စွမ်းသူများ ဖြစ်သွားကြပေမည်။ မည်သို့မျှ သွားလာလှုပ်ရှားနိုင်ကြမည် မဟုတ်ပေ။ လူညွှန့်လူစ တုံးသွားကြပေမည်။ အလ္လာဟ်အရှင်မြတ်သည် သို့ ပြစ်ဒဏ်ခတ်တော် မူနိုင်ပါလျက် ပြစ်ဒဏ်ခတ်တော်မမူသေးခြင်းမှာ သတ်မှတ်ထားတော်မူသည့် အချိန်အထိ ခေတ္တခွင့်ပြုထားတော်မူခြင်းသာ ဖြစ်သည်။ 

وَلَوْ نَشَاءُ لَمَسَخْنَاهُمْ عَلَىٰ
مَكَانَتِهِمْ فَمَا اسْتَطَاعُوا
مُضِيًّا وَلَا يَرْجِعُونَ ٦٧

၆၇။ ထိုနည်းတူစွာ အကယ်၍သာ ငါအရှင်မြတ်သည် အလိုရှိတော်မူပါလျှင် ၎င်းတို့၏နေရာ၌ပင် ၎င်းတို့အား ပုံသဏ္ဌာန်ပြောင်းလဲပစ်တော်မူခဲ့ပေမည်။ ထိုအခါ ၎င်းတို့သည် ရှေ့သို့သွားနိုင်ကြမည်လည်း မဟုတ်ပေ။ နောက်သို့ ပြန်လာနိုင်ကြမည်လည်း မဟုတ်ပေတကား။

وَمَنْ نُعَمِّرْهُ نُنَكِّسْهُ فِي
الْخَلْقِ ۖ أَفَلَا يَعْقِلُونَ ٦٨

၆၈။ စင်စစ်သော်ကား ငါအရှင်မြတ်သည် သက်ရှယ်ကြီးရင့် အိုမင်းစေတော်မူသောသူအား ၎င်း၏ ဖန်ဆင်းမှု၌ ပြောင်းပြန်ဖြစ်စေတော်မူ၏။ သို့ပါလျက် ၎င်းတို့သည် (ဤမျှပင်) မသိနားမလည်ကြလေသလော။ [1]

---

➢➢ ကာဖိရ်များသည် ဤပစ္စက္ခတွင် အကယ်တန္တု ပြစ်ဒဏ်မှ လွတ်မြောက်သွားခဲ့ကြသော်လည်း ကိယာမတ်နေ့တွင်မူ အသို့လျှင် လွတ်မြောက် နိုင်ကြအံ့နည်း၊ ကိယာမတ်နေ့တွင် ၎င်းတို့၏ ခြေ၊လက်စသည့် အင်္ဂါအစိတ်အပိုင်းများကပင်လျှင် ၎င်းတို့နှင့်ပတ်သက်၍ ၎င်းတို့သည် ကျွန်တော်မျိုးတို့အား ဤသို့၊ထိုသို့ အလွဲသုံးစား ပြုလုပ်ကြပါသည်ဟု အတိအကျ သက်သေ ထွက်ဆိုကြဦးမည် ဖြစ်သည်။

(၁) အထက်တွင် အလ္လာဟ်အရှင်မြတ်သည် အလိုတော်ရှိတော်မူပါက ဤပစ္စက္ခမှာပင် ကာဖိရ်များအား မျက်ကန်းများ၊ ရုပ်ပျက်ဆင်းပျက်များ၊ မသန်စွမ်းသူများ ပြုလုပ်ပစ်တော်မူနိုင်ကြောင်း ပါရှိသည်။ ဤသည်ကို ကာဖိရ်များသည် မဖြစ်နိုင်ရာဟူ၍ ထင်မှတ်မနေကြရာ။ မိမိတို့၏ ဘဝသက်တမ်းကို စဉ်းစားဆင်ခြင် ကြည့်ရှုကြရာသည်။

လူသားသည် ရေကြည်တစ်စက်မှ စတင်ဖြစ်ပေါ်လာခဲ့သည်။ အမိဝမ်းတွင်း၌ ကိန်းအောင်းခဲ့သည်။ အချိန်စေ့သောအခါ မွေးဖွားလာခဲ့သည်။ နို့စို့အရွယ် လူမမယ်ဖြစ်ခဲ့သည်။ ထိုမှတစ်ဆင့် ကြီးထွားလာခဲ့သည်၊ နုပျိုလာခဲ့သည်၊ သန်စွမ်းလာခဲ့သည်၊ လုပတင့်တယ် ခံ့ညားလာခဲ့သည်။ စိတ်တိုင်းကျ သွားလာလှုပ်ရှားလာခဲ့သည်။ ထိုမှတစ်ဆင့် အိုမင်းရင့်ရော်လာခဲ့သည်။ အားအင်ဆုတ်ယုတ်လာခဲ့သည်။ ရုပ်ပျက်ဆင်းပျက် ဖြစ်လာခဲ့သည်။ စိတ်တိုင်းကျ သွားလာလှုပ်ရှားခြင်း မပြုနိုင်တော့ပေ။ လူ၏ဘဝကား ပြောင်းပြန်ဖြစ်သွားပေပြီ။ ဤသည် အလ္လာဟ်အရှင်မြတ်၏ စီမံဖန်တီးမှု ခြယ်လှယ်မှုပင်။ သို့ဖြစ်ပေရာ ယင်းသို့ တိုတောင်းလှသော လူ့ဘဝသက်တမ်း အတွင်းမှာပင် အမျိုးမျိုးအပြန်အလှန် ပြောင်းလွဲစီမံ၊ ဖန်တီးခြယ်လှယ်တော်မူနိုင်သော အရှင်မြတ်သည် အလိုတော်ရှိပါက အချိန်မရွေး၊ အရွယ်မရွေး၊ မျက်စိကန်းအောင်၊ ရုပ်ပျက်ဆင်းပျက်ဖြစ်အောင် လုံးဝ မသန်စွမ်းအောင် ပြုလုပ်တော်မမူနိုင်ဘဲ အသို့လျှင်ရှိနိုင်အံ့နည်း။ အိုမင်းရင့်ရော်သည့်အရွယ်၌ မသန်စွမ်းအောင် ပြုလုပ်တော်မူနိုင်သော အရှင်သည် နုပျိုနေသည့်အချိန်တွင်လည်း မသန်စွမ်းအောင် ပြုလုပ်တော်မူနိုင်သည် မဟုတ်ပါလော။ ကာဖိရ်များသည် ဤမျှပင် မသိနားမလည်ကြလေသလော။

وَمَا عَلَّمْنٰهُ الشِّعْرَ وَمَا يَنْۢبَغِيْ لَهٗ ۭ اِنْ هُوَ اِلَّا ذِكْرٌ وَّقُرْاٰنٌ مُّبِيْنٌ ۝٦٩

၆၉။ စင်စစ်သော်ကား ငါအရှင်မြတ်သည် ထို(တမန်တော်မြတ် မုဟမ္မဒ်)အား လင်္ကာ (ဖွဲ့စပ်သီကုံးခြင်း)ကို သင်ကြားပို့ချ၍ ပေးတော်မူခဲ့သည် မဟုတ်ပေ။ ၎င်းပြင် ယင်းလင်္ကာ(စပ်ဆိုသီကုံးခြင်း) သည် ထို(တမန်တော်မြတ်)နှင့် အပ်စပ်သည်လည်း မဟုတ်ပေ။ ထို(တမန်တော်မြတ်ယူဆောင်လာသော) တရားဒေသနာမှာ ဆုံးမဩဝါဒနှင့် ထင်ရှားသော ကုရ်အာန်ကျမ်းမြတ်သာလျှင် ဖြစ်ပေသည်။ [၁]

لِّيُنْذِرَ مَنْ كَانَ حَيًّا وَّيَحِقَّ الْقَوْلُ عَلَى الْكٰفِرِيْنَ ۝٧٠

၇၀။ (ယင်းကုရ်အာန်ကျမ်းတော်မြတ်ကို ထုတ်ပြန်တော်မူခြင်းမှာ)ထိုတမန်တော်မြတ်သည် (စိတ်နှလုံး)ရှင်သူတို့အား သတိပေးနှိုးဆော်အံ့သောငှာလည်းကောင်း၊ "ကာဖိရ်" သွေဖည်ငြင်းပယ်သောသူတို့အပေါ် စွပ်စွဲချက် အတည်ဖြစ်အံ့သောငှာလည်းကောင်း၊ ဖြစ်ချေသတည်း။[၂]

---

(၁) အထက်တွင် ဖော်ပြပါ စကားရပ်များသည် ဖြစ်ရပ်မှန် အကြောင်းမှန်များသာ ဖြစ်သည်။ (ရှာအိရ်)လင်္ကာဆရာ၊ ကဗျာဆရာ၏လင်္ကာ၊ ကဗျာများမဟုတ်။ အတွေးယဉ်မှုများမဟုတ်။ တမန်တော်မြတ်အား အလ္လာဟ်အရှင်မြတ် ချီးမြှင့်ထားတော်မူသော ကုရ်အာန်ကျမ်းမြတ်မှာ အဆုံးအမ ဩဝါဒတော်များ၊ ဒေသနာတော်များသာ ဖြစ်ချေသည်။ တွေးတောကြံဆ၊ စပ်ဆိုထားသည့် ပျို့၊ကဗျာ၊လင်္ကာမဟုတ်။

ရှအိရ်-ပျို့၊ကဗျာ၊လင်္ကာ စသည်များ၊ အထူးသဖြင့် အရပ်လောကတွင် ယုတ္တိမရှိသော ကြံဆ၊တွေးတော စပ်ဆိုထားသော စိတ်ကူးယဉ်မှုများသာ ဖြစ်ချေသည်။ ဖြစ်ရပ်မှန်နှင့် မည်သို့မျှ မအပ်စပ်ပေ။ အရပ်လောကတွင် အကောင်းဆုံးသော ပျို့၊ကဗျာ၊လင်္ကာများမှာ အများဆုံး မုသားစကားသုံး၍ ကြံကြီးစည်ရာ တွေးတော စပ်ဆိုထားသော ပျို့၊ ကဗျာ၊ လင်္ကာပင် ဖြစ်သည်။ ယင်းသို့သော ပျို့၊ ကဗျာ၊ လင်္ကာများသည် တမန်တော်မြတ်နှင့် မည်သို့မျှ မအပ်စပ်ပေ။ "ကုရိုက်ရှ်" မျိုးနွယ်ဝင်များတွင် သာမန်မိန်းကလေးများသည်ပင် ပျို့၊ ကဗျာ၊ လင်္ကာများကို သီကုံးစပ်ဆိုလေ့ ရှိခဲ့ကြသော်လည်း တမန်တော်မြတ်သည် မိမိ၏ သက်တမ်းတစ်လျှောက်လုံးတွင် လင်္ကာတစ်ပုဒ်မျှပင် စပ်ဆိုတော်မူခဲ့သည်ဟူ၍ အလျှင်းမရှိခဲ့ပေ။

ပျို့၊ကဗျာ၊လင်္ကာ၏ ထူးခြားချက်တစ်ရပ်မှာ တစ်ဖက်သား၏ စိတ်ဓာတ်ကို ဆွဲဆောင်မှုပင်ဖြစ်သည်။ ဤသည့်စွမ်းရည်သတ္တိသည် စကားပြေနှင့်ဖြစ်သော ကုရ်အာန်ကျမ်းမြတ်တော်တွင် အပြည့်အဝပါရှိသည်။

လင်္ကာဆရာ၊ ကဗျာဆရာများသည် မိမိတို့၏ လင်္ကာ၊ကဗျာများဖြင့် ရုပ်ပိုင်းတွင်ဖြစ်စေ၊ နာမ်ပိုင်းတွင် ဖြစ်စေ၊ အုပ်စုတစ်ခု၊ ဝါဒတစ်ခု၊ လမ်းစဉ်တစ်ရပ်ကို တည်ထောင်နိုင်ခဲ့ကြသည်မရှိပေ။ ဤသည် တမန်တော်များ ၏ အလုပ်သာ ဖြစ်ခဲ့ပေသည်။ တမန်တော်များသည် အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်ဖြင့် သေနေသော စိတ်နှလုံးများကို ရာသက်ပန် ရှင်သန်စေခဲ့ကြပေသည်။

أَوَلَمْ يَرَوْا أَنَّا خَلَقْنَا لَهُم مِّمَّا عَمِلَتْ أَيْدِينَا أَنْعَامًا فَهُمْ لَهَا مَالِكُونَ ﴿٧١﴾

၇၁။ စင်စစ်ကေန် ငါအရှင်မြတ်သည် ၎င်းတို့အကျိုးငှာ မိမိလက်တော်ဖြင့် ပြုလုပ်တော်မူခဲ့သောအရာတို့တွင် ကုလားအုတ်၊ ကျွဲ၊ နွား တိရစ္ဆာန်တို့ကို ဖန်ဆင်းတော်မူခဲ့ရာ၊ ၎င်းတို့သည် ယင်းကုလားအုတ်၊ ကျွဲ၊ နွားတိရစ္ဆာန်များကို ပိုင်ဆိုင်သူများ ဖြစ်သွားခဲ့ကြသည်ကို ၎င်းတို့ မမြင်ခဲ့ကြလေသလော။

وَذَلَّلْنَاهَا لَهُمْ فَمِنْهَا رَكُوبُهُمْ وَمِنْهَا يَأْكُلُونَ ﴿٧٢﴾

၇၂။ ထို့ပြင် ငါအရှင်မြတ်သည် ယင်းတိရစ္ဆာန်များကို အညံ့ခံစေတော်မူခဲ့ရာ ယင်းတိရစ္ဆာန်များအနက် အချို့မှာ ၎င်းတို့၏ အစီးအနင်းဖြစ်ကြ၏။ ထိုမှတစ်ပါး ယင်းတိရစ္ဆာန်များအနက် အချို့ကို ၎င်းတို့သည် စားသုံးကြကုန်၏။

وَلَهُمْ فِيهَا مَنَافِعُ وَمَشَارِبُ ۖ أَفَلَا يَشْكُرُونَ ﴿٧٣﴾

၇၃။ ထိုမှတစ်ပါး ထိုသူတို့အဖို့ ယင်းတိရစ္ဆာန်များ၌ (အခြား) အကျိုးကျေးဇူးများသည် လည်းကောင်း၊ သောက်သုံးဖွယ်ရာများသည်လည်းကောင်း၊ ရှိကြပေသည်။ သို့ပါလျက် ၎င်းတို့သည် ကျေးဇူးမတင်ကြလေသလော။

وَاتَّخَذُوا مِن دُونِ اللَّهِ آلِهَةً لَّعَلَّهُمْ يُنصَرُونَ ﴿٧٤﴾

၇၄။ ထိုမှတစ်ပါး ၎င်းတို့သည် မိမိတို့မှာ ကူညီရိုင်းပင်းခြင်းကို ခံကြရမည်ဟု မျှော်လင့်ကြလျက် အလ္လာဟ်အရှင်မြတ်အပြင် အခြားကိုးကွယ်ရာများကို သတ်မှတ်ခဲ့ကြကုန်၏။

---

(၂) ကုရ်အာန်ကျမ်းမြတ်ကို ထုတ်ပြန်ချမှတ်တော်မူခြင်းမှာ တမန်တော်မြတ်သည် ယင်းကုရ်အာန်ကျမ်းလာဒေသနာတော်ဖြင့် စိတ်နှလုံးရှင်နေသူများအား သတိပေး နှိုးဆော်တော်မူနိုင်ရန်နှင့် ကာဖိရ်များအပေါ်၌ စွပ်စွဲချက်၊ အတည်ဖြစ်စေရန် ဖြစ်ပေသည်။ အဘယ်ကြောင့်ဆိုသော် စိတ်နှလုံးရှင်သူသာ အကျိုးခံစားမည်၊ ကုရ်အာန်ကျမ်းမြတ်ကို ထုတ်ပြန်ချမှတ်တော်မမူပါက ကာဖိရ်များသည် ကျမ်းဂန်မရရှိသည်ကို အကြောင်းပြု၍ ထုချေကြပေမည်။ ယခုမူ ကုရ်အာန်ကျမ်းမြတ် ကျရောက်လာခဲ့ပေပြီ။ တမန်တော်မြတ်လည်း ပွင့်လာတော်မူခဲ့ချေပြီ။ တရားဒေသနာတော်များကို နာယူကျင့်မူရန်သာ ရှိပေတော့သည်။ သို့ပါလျက် သွေဖည်ငြင်းဆန် မနာခံက မနာခံသူ၏အပြစ်သာ ဖြစ်ချိမ့်မည်၊ အကြောင်းပြရန်မရှိပြီ။

لَا يَسْتَطِيْعُوْنَ نَصْرَهُمْ وَهُمْ لَهُمْ جُنْدٌ مُّحْضَرُوْنَ ﴿٧٥﴾

၇၅။ (အမှန်စင်စစ်သော်ကား) ထိုကိုးကွယ်ရာများသည် ၎င်းတို့အား (အနည်းငယ် စိုးစဉ်းမျှပင်) ယိုင်းပင်း ကူညီနိုင်ကြသည် မဟုတ်သည့်ပြင် စင်စစ် ယင်းကိုးကွယ်ရာများမှာ (ရှေ့တော်မှောက်သို့) အဆင်သင့် ရောက်ရှိစေခြင်း ခံကြရသော ၎င်းတို့၏ ဆန့်ကျင်ဖက် အုပ်စုပင် ဖြစ်သွားကြပေမည်။

فَلَا يَحْزُنْكَ قَوْلُهُمْ ۘ اِنَّا نَعْلَمُ مَا يُسِرُّوْنَ وَمَا يُعْلِنُوْنَ ﴿٧٦﴾

၇၆။ သို့ဖြစ်ပေရာ (အို-နဗီတမန်တော်) ထိုသူတို့၏ပြောဆိုမှုသည် အသင့်အား စိတ်နှလုံးမချမ်းမြေ့ မဖြစ်စေရ။ ကေန်အမှန် ထိုသူတို့ လျှို့ဝှက်သမျှတို့ကိုလည်းကောင်း၊ ထိုသူတို့ ထင်ရှားစေသမျှတို့ကိုလည်းကောင်း၊ ငါအရှင်မြတ်သည် (အကြွင်းမဲ့) သိရှိတော်မူပေသတည်း။ ၁

اَوَلَمْ يَرَ الْاِنْسَانُ اَنَّا خَلَقْنٰهُ مِنْ نُّطْفَةٍ فَاِذَا هُوَ خَصِيْمٌ مُّبِيْنٌ ﴿٧٧﴾

၇၇။ "မနုဿ" လူသားသည် မစဉ်းစား မဆင်ခြင် မမြင်ခဲ့လေသလော။ ကေန်မလွဲ ငါအရှင်မြတ်သည် ၎င်းအား ကလလရေကြည် တစ်စက်ဖြင့် ဖန်ဆင်းတော်မူခဲ့၏။ သို့ရာတွင် ရုတ်တရက် ၎င်းမှာ ထင်ရှားစွာသော အငြင်းအခုံ ပြုလုပ်သူဖြစ်လာခဲ့၏။

وَضَرَبَ لَنَا مَثَلًا وَّنَسِيَ خَلْقَهٗ ۭ قَالَ مَنْ يُّحْيِ الْعِظَامَ وَهِيَ رَمِيْمٌ ﴿٧٨﴾

၇၈။ ထိုမှတစ်ပါး ထို "မနုဿ" လူသားသည် ငါအရှင်မြတ်နှင့်ပတ်သက်၍ (လွန်စွာရိုင်းပြသော) ဥပမာတစ်ခုကို ခိုင်းနှိုင်း ပြောဆိုခဲ့လေ၏။ ထို့ပြင် ၎င်းသည် မိမိဖန်ဆင်းခြင်းခံခဲ့ရသောအဖြစ်ကို မေ့သွားခဲ့၏။ ၎င်းက (ခိုင်းနှိုင်းပြောဆိုခဲ့သည်မှာ) အရိုးများ ဆွေးမြည့်သွားခဲ့သောအခါ မည်သူသည် ယင်းအရိုးများကို ရှင်စေအံ့နည်းဟု ပြောဆိုခဲ့လေ၏။

---

(၁) ကာဖိရ်များသည် အလ္လာဟ်အရှင်မြတ်၏ ထင်ရှားလှစွာသော သက်သေလက္ခဏာတော်များနှင့် ကျေးဇူးတော်များကို မျက်ဝါးထင်ထင် တွေ့မြင်နေကြရပါလျက် ထိုအရှင်မြတ်အား သွေဖည်ကျောခိုင်းလျက်ရှိပေရာ တမန်တော်မြတ်သည် မိမိနှင့်ပတ်သက်၍ ကာဖိရ်များက လက်ာဆရာ၊ ကဗျာဆရာ စသည်ဖြင့် ထိပါးပုတ်ခတ် ➤➤

قُلْ يُحْيِيهَا الَّذِي أَنشَأَهَا أَوَّلَ مَرَّةٍ ۖ وَهُوَ بِكُلِّ خَلْقٍ عَلِيمٌ ﴿٧٩﴾

၇၉။ (အို-နဗီတမန်တော်) အသင်သည် ပြောကြားပါလေ။ (အချင်းတို့၊) ပထမအကြိမ် ယင်းအရိုးများကို ဖန်ဆင်းတော်မူခဲ့သော အရှင်မြတ်သည်ပင်လျှင် ယင်းအရိုးများကို ရှင်(ပြန်)စေတော်မူမည်။ စင်စစ်သော်ကား ထိုအရှင်မြတ်သည် အလုံးစုံသောဖန်ဆင်းပုံဖန်ဆင်းနည်းတို့ကို ကောင်းစွာ သိရှိတော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူ၏။ ①

الَّذِي جَعَلَ لَكُم مِّنَ الشَّجَرِ الْأَخْضَرِ نَارًا فَإِذَا أَنتُم مِّنْهُ تُوقِدُونَ ﴿٨٠﴾

၈၀။ အကြင် အရှင်မြတ်သည် စိမ်းစိုသော သစ်ပင်မှပင် အသင်တို့၏အကျိုးငှာ မီးကို ဖန်ဆင်းတော်မူခဲ့ရာ ယခုသော်ကား အသင်တို့သည် ထိုသစ်ပင်မှပင် မီးမွှေးနေကြကုန်သတည်း။

---

➤➤ ပြောဆိုကြသည်များ အတွက် စိတ်ပျက်ရန်မလိုပေ။ အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့ကြံသမျှ၊ ပြောသမျှ၊ပြုသမျှ၊ အတွင်းအပြင် အားလုံးကို ကြွင်းမဲ့ဥဿုံအလုံးစုံ သိတော်မူသည်ဖြစ်ရာ အချိန်တန်သည့်အခါ တိကျစွာ အရေးယူတော်မူမည်သာ။

① အလ္လာဟ်အရှင်မြတ်သည် လူသားအား ကလလ ရေကြည်တစ်စက်ဖြင့် ဖန်ဆင်းထားတော်မူခြင်း ဖြစ်သည်။ ထိုအရှင်မြတ်၏ ကျေးဇူးတော်ဖြင့် ထိုရေကြည်တစ်စက်သည် ယခု လူတစ်လုံး သူတစ်လုံးဖြစ်လျက် ရှိချေပြီ။ စွမ်းရည်သတ္တိ အမျိုးမျိုးကိုလည်း ရရှိချေပြီ။ ကောင်းမွန်စွာ သွားလာလှုပ်ရှားလျက် ရှိချေပြီ။ သွက်သွက်လက်လက် ပြောဆိုလျက်ရှိချေပြီ။ နေရာတိုင်းတွင် စွာကျယ် စွာကျယ်လုပ်လျက်ရှိချေပြီ။ စကားကြီးစကားကျယ် ပြောဆိုလျက် ရှိချေပြီ။

ယခုမူ လူသားသည်နယ်လွန်ကာ အလ္လာဟ်အရှင်မြတ်နှင့် ပတ်သက်၍ပင် မပြောအပ်၊ မဆိုအပ်သည်များကို ပြောဆိုလာခဲ့ချေပြီ။ အလ္လာဟ်အရှင်မြတ်အား တစ်စုံတစ်ရာ မပြုနိုင်စွမ်းသော သာမန်အဖန်ဆင်းခံများကဲ့သို့ ထင်မှတ်ကာ သေကြေပျက်စီး၍ ဆွေးမြည့်ကြေမွနေသော အရိုးများကို မည်သူပြန်လည်ရှင်စေနိုင်အံ့နည်းဟူ၍ပင် မေးခွန်းထုတ်လာခဲ့ချေပြီ။ လူသားသည် မိမိ၏ဘဝဖြစ်စဥ်ကို မေ့နေသည်။ အကယ်၍ လူသားသည် မိမိ၏ဘဝဖြစ်စဥ်ကို မမေ့ပါက ယင်းသို့ မေးခွန်းထုတ်ဝံ့မည် မဟုတ်ပေ။ မေးခွန်းထုတ်ရန်လည်း မလိုပေ။ လူသားထုတ်ထားသော မေးခွန်း၏အဖြေမှာ အထင်သား၊ အမြင်သား၊ အထင်အရှားပင်။ ယင်းသည့် အရိုးများတွင် ဦးစွာပထမ အသက်သွင်းပေးတော်မူသော အရှင်မြတ်သည်ပင် ဒုတိယအကြိမ် ပြန်လည် အသက်သွင်းပေးတော်မူမည်ဖြစ်သည်။ ပထမအကြိမ် အသက်သွင်းပေးတော်မူသော အရှင်မြတ်အဖို့ ဒုတိယအကြိမ် အသက်သွင်းတော်မူခြင်းမှာ အသို့လျှင် အခက်အခဲရှိနိုင်အံ့နည်း။ ပို၍ပင် လွယ်ကူမည် မဟုတ်ပါလော။

ကြည့်-ကုရ်အာန် (၃၀:၂၇)။

أَوَلَيْسَ الَّذِي خَلَقَ السَّمٰوٰتِ وَالْأَرْضَ بِقٰدِرٍ عَلٰٓى أَنْ يَّخْلُقَ مِثْلَهُمْ ۚ بَلٰى ۚ وَهُوَ الْخَلّٰقُ الْعَلِيْمُ ﴿٨١﴾

၈၁။ မိုးကောင်းကင်များကိုလည်းကောင်း၊ ကမ္ဘာမြေကိုလည်းကောင်း၊ ဖန်ဆင်းတော်မူခဲ့သောအရှင်မြတ်သည် ၎င်းတို့ကဲ့သို့သောသူတို့အား (ဒုတိယအကြိမ် ထပ်မံ၍) ဖန်ဆင်းတော်မူရန် စွမ်းနိုင်တော်မူသောအရှင် မဟုတ်ပါလော။

*အဘယ်ကြောင့်မဟုတ်ပါသနည်း။* [၁] မုချမလွဲ (စွမ်းနိုင်တော်မူသော အရှင်မြတ်ပင်) ဖြစ်တော်မူ၏။ စင်စစ်မူကား ထိုအရှင်မြတ်သည် အလွန်တရာ ဖန်ဆင်းတော်မူသောအရှင်၊ (အရာခပ်သိမ်းတို့ကို) အကြွင်းမဲ့ သိတော်မူသောအရှင်၊ ဖြစ်တော်မူ၏။

إِنَّمَآ أَمْرُهٗٓ إِذَآ أَرَادَ شَيْـًٔا أَنْ يَّقُوْلَ لَهٗ كُنْ فَيَكُوْنُ ﴿٨٢﴾

၈၂။ ထိုအရှင်မြတ်၏ အမိန့်တော်ကား တစ်စုံတစ်ရာကို ထိုအရှင်မြတ်သည် (ဖန်ဆင်းတော်မူရန်) ရည်ရွယ်တော်မူသောအခါ ထိုအရာကို ဖြစ်စေဟု မိန့်ကြားတော်မူခြင်းမျှဖြစ်၏။ ထိုအခါ ယင်းအရာသည် ဖြစ်လာလေ၏။ [၂]

---

(၁) အတိုင်းမသိ မြင့်စွင့်သော မိုးကောင်းကင်များနှင့် ထုထည်ကြီးမားလှဘိသော ပထဝီမြေကြီးကို စတင်ဖန်ဆင်းထားတော်မူသော အရှင်မြတ်အဖို့ ယင်းကာဖိရ်များကဲ့သို့ သေးငယ်လှသော လူသားတို့အား ပြန်လည်ဖန်ဆင်းတော်မူရန်မှာ အသို့လျှင် အခက်အခဲရှိနိုင်အံ့နည်း။ အသို့မျှ အခက်အခဲမရှိ။

(၂) အလ္လာဟ်အရှင်မြတ်အဖို့ မည်သည့်အရာကိုမဆို ဖန်ဆင်းတော်မူရာ၌ ကြီးသည်ဖြစ်စေ၊ ငယ်သည်ဖြစ်စေ၊ ပထမ စတင်ဖန်ဆင်းခြင်းဖြစ်စေ၊ ဒုတိယအကြိမ် ပြန်လည်ဖန်ဆင်းခြင်းဖြစ်စေ၊ မည်သို့မျှ အခက်အခဲမရှိပေ။ အဘယ့်ကြောင့်ဆိုသော် အလ္လာဟ်အရှင်မြတ်သည် ဉာဏ်တော်အနန္တရှင်၊ တန်ခိုးတော်အနန္တရှင် ဖန်ဆင်းပုံအလုံးစုံကို အကြွင်းမဲ့ သိတော်မူသောအရှင် ဖြစ်တော်မူသည်။ ထိုအရှင်မြတ်သည် တစ်စုံတစ်ရာကို ဖန်ဆင်းတော်မူလိုပါလျှင် "ဖြစ်စေ"ဟု မိန့်ကြားတော်မူလိုက်ရုံမျှဖြင့် ထိုအရာသည် ချက်ချင်းဖြစ်ပေါ်လာပေသည်။

ဤအကြောင်း ကုရ်အာန် (၂း၁၁၇)၊တွင် ပါရှိခဲ့ချေပြီ။

فَسُبْحٰنَ الَّذِيْ بِيَدِهٖ مَلَكُوْتُ كُلِّ شَيْءٍ وَّاِلَيْهِ تُرْجَعُوْنَ ﴿٨٣﴾

၈၃။ သို့ဖြစ်ပေရာ အကြင် အရှင်မြတ်သည် စင်ကြယ် သန့်ရှင်းတော်မူ၏။ အရာခပ်သိမ်းတို့ကို စိုးမိုးအုပ်ချုပ်မှု အာဏာသည် ထိုအရှင်မြတ်၏ လက်တော်တွင်း၌သာရှိ၏။ ထိုမှတစ်ပါး အသင်တို့ (အားလုံး)သည် ထိုအရှင်မြတ်အထံတော်သို့သာလျှင် ပြန်လည်၍ သွားကြရကုန်အံ့သတည်း။ [၁]

(၁) အထက်ပါ ဒေသနာတော်များဖြင့် အရာခပ်သိမ်းကုန်တို့ကို စိုးမိုး၊အုပ်ချုပ်မှုအာဏာသည် အခါခပ်သိမ်း အလ္လာဟ်အရှင်မြတ်၏ လက်တော်တွင်း၌သာ ရှိကြောင်း၊ အားလုံးတို့သည် တစ်ရက် ထိုအရှင်မြတ်ထံတော်သို့ ပြန်လည်ရောက်ရှိ ကြရမည်ဖြစ်ကြောင်း၊ ထိုအရှင်မြတ်သည် ချို့တဲ့မှုအပေါင်းမှ လုံးဝသန့်ရှင်း အပြစ်ကင်းတော်မူကြောင်း၊ ကိုးကွယ်ရာအစစ် ဖြစ်တော်မူကြောင်း ထင်ရှားပါဘိတကား။

# စီတန်းနေသူများကဏ္ဍ

سُوْرَةُ الصَّافَّاتِ

ဤကဏ္ဍသည် "ဆွာဖ်ဖာတ်" "စီတန်းနေသူများ" အကြောင်း ပါဝင်သောကဏ္ဍမည်၏။
မက္ကာမြို့တော်၌ ကျရောက်ခဲ့၏။
ဤကဏ္ဍတွင် အာယတ်တော် (၁၈၂)ပါး ရကူအ်အပိုဒ်(၅)ပိုဒ် အသီးသီးပါရှိ၏။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ

မပြတ်မစဲ သနားကြင်နာ ညှာတာတော်မူသော၊
အနန္တကရုဏာတော်ရှင် ဖြစ်တော်မူသော
အလ္လာဟ်အရှင်မြတ်၏ နာမတော်ဖြင့် အစပြုပါ၏။

وَالصّٰٓفّٰتِ صَفًّا ①

၁။ (ငါအရှင်မြတ်သည်) အနေအထားကျနစွာ တန်းစီ မတ်တတ်ရပ်ကြသူတို့အား သက်သေထူတော်မူ၏။

فَالزّٰجِرٰتِ زَجْرًا ②

၂။ တစ်ဖန် (ငါအရှင်မြတ်သည်) ငေါက်ငမ်းလျက် မောင်းနှင်သူတို့အား သက်သေထူတော်မူ၏။

فَالتّٰلِيٰتِ ذِكْرًا ③

၃။ ထို့နောက်တစ်ဖန် (ငါအရှင်မြတ်သည်) "ဇစ်က်ရ်" ကမ္မဋ္ဌာန်းကို စီးဖြန်းသရဇ္ဈာယ်ကြသူတို့အား (တစ်နည်း) ကျက်မှတ်ရွတ်ဖတ်သရဇ္ဈာယ်သူတို့အား သက်သေထူတော်မူ၏။

اِنَّ اِلٰهَكُمْ لَوَاحِدٌ ④

၄။ မလွဲဧကန် အသင်တို့၏ ဆည်းကပ်ကိုးကွယ်ရာအရှင်ကား တစ်ဆူတည်းသာလျှင် ဖြစ်တော်မူ၏။

رَبُّ السَّمٰوٰتِ وَالْاَرْضِ وَمَا بَيْنَهُمَا وَرَبُّ الْمَشَارِقِ ⑤

၅။ (ထိုအရှင်မြတ်သည်) မိုးကောင်းကင်များကို လည်းကောင်း၊ ပထဝီမြေကိုလည်းကောင်း၊ ယင်းမိုးကောင်းကင်များနှင့် ပထဝီမြေနှစ်ခုလုံး၏အကြား၌ ရှိသမျှတို့ကိုလည်းကောင်း၊ ဖန်ဆင်း စိုးပိုင်တော်မူသောအရှင်၊ ထိုမှတစ်ပါး နေထွက်ရာ အရပ်များကို

ဖန်ဆင်း စိုးပိုင်တော်မူသော အရှင်ဖြစ်တော်မူပေသတည်း။ [၁]

إِنَّا زَيَّنَّا السَّمَاءَ الدُّنْيَا بِزِينَةٍ الْكَوَاكِبِ ⑥

၆။ ဧကန်စင်စစ် ငါအရှင်မြတ်သည် အောက်ဆုံးဖြစ်သော မိုးကောင်းကင်ကို ကြယ်နက္ခတ်များတည်းဟူသော အဆင်အယင်ဖြင့် တန်ဆာဆင်ယင်တော်မူခဲ့၏။

وَحِفْظًا مِّن كُلِّ شَيْطَانٍ مَّارِدٍ ⑦

၇။ ၎င်းပြင် (ငါအရှင်မြတ်သည်) "ရှိုင်တွာန်" မိစ္ဆာကောင်အသီးသီးမှ အကာအကွယ် ပြုလုပ်တော်မူခဲ့၏။

لَّا يَسَّمَّعُونَ إِلَى الْمَلَإِ الْأَعْلَىٰ وَيُقْذَفُونَ مِن كُلِّ جَانِبٍ ⑧

၈။ ထို "ရှိုင်တွာန်" မိစ္ဆာကောင်များသည် အထက်ကောင်းကင်ရှိ ပရိပတ်မြို့တော်သို့ (သွားရောက်) နားစွင့်နိုင်ခြင်း မရှိကြသည့်ပြင် ၎င်းတို့သည် အဖက်ဖက်မှ (မီးတောက်ကြယ်ပျံဖြင့်) ပစ်ပေါက်ခြင်းကို ခံကြရကုန်၏။ [၂]

---

① အလ္လာဟ်အရှင်မြတ်သည် ဤအာယတ်တော်များတွင်–

(၁) စီတန်းလျက် ဝတ်ပြုကြသော သို့မဟုတ် အမိန့်တော်များကိုနာခံရန် ကိုယ့်အဆင့်အတန်းနှင့်ကိုယ် မိမိတို့၏နေရာများတွင် အသီးသီးစီတန်းကာ အသင့်စောင့်မျှော်လျက်ရှိကြသော ကောင်းကင်တမန်များ၊ သို့မဟုတ် ဆွလာတ်၊ ဂျီဟာဒ် စသည်တို့တွင် စီတန်းလျက်ရှိကြသော လူပုဂ္ဂိုလ်တို့အား လည်းကောင်း။

(၂) ရှိုင်တွာန်များကို ခိုးဝှက်၍ နားမထောင်နိုင်ရန်၊ မောင်းနှင်ထုတ်လျက်ရှိသော ကောင်းကင်တမန်များ၊ သို့တည်းမဟုတ် လူသားတို့အား ကောင်းရာကိုပြ၍ မကောင်းမှုများမှ တားမြစ်ကြသော ကောင်းကင်တမန်များ၊ သို့မဟုတ် မိမိ၏စိတ်ကို မကောင်းမှုများမှတားမြစ်၍ သူတစ်ပါးတို့အားလည်း မကောင်းမှုများကို ကျူးလွန်ရာတွင် ငေါက်ငမ်းသော လူပုဂ္ဂိုလ်များအားလည်းကောင်း။

(၃) ဒေသနာတော်များကို ကြားနာပြီးနောက် ယင်းဒေသနာတော်များကို ရွတ်ဖတ်သရဇ္ဈာယ်ကြသော၊ ကျက်မှတ်ကြသော ကောင်းကင်တမန်များ၊ သို့မဟုတ် လူပုဂ္ဂိုလ်များအား လည်းကောင်း၊ ကျိန်ဆိုတော်မူပြီး ကိုးကွယ်ရာအရှင်သည် တစ်ပါးတည်းသာ ဖြစ်တော်မူကြောင်း၊ ထိုအရှင်မြတ်သည် မိုးကောင်းကင်များနှင့် ပထဝီမြေကိုလည်းကောင်း၊ ထိုနှစ်ခုစပ်ကြားရှိ အရာခပ်သိမ်းကုန်တို့ကို လည်းကောင်း၊ နေထွက်ရာအရပ်များကို လည်းကောင်း စိုးမိုးတော်မူကြောင်း မိန့်ဆိုထားတော်မူသည်။ ဤသည်ကို ကောင်းကင်တမန်များနှင့် ပထဝီမြေရှိ သူတော်စင်ပုဂ္ဂိုလ်များသည် အခါခပ်သိမ်း ကာယကံအားဖြင့်လည်းကောင်း၊ နှုတ်အားဖြင့်လည်းကောင်း သက်သေခံလျက် ရှိကြပေသည်။

دُحُوْرًا وَّلَهُمْ عَذَابٌ وَّاصِبٌ ﴿٩﴾

၉။ နှင်ထုတ်ခြင်းခံကြရလျက်၊ ထိုမှတစ်ပါး ၎င်းတို့၌ ထာဝစဉ်ခံကြရအံ့သောပြစ်ဒဏ်သည်လည်း ရှိပေဦးမည်။

إِلَّا مَنْ خَطِفَ الْخَطْفَةَ فَأَتْبَعَهٗ شِهَابٌ ثَاقِبٌ ﴿١٠﴾

၁၀။ သို့ရာတွင် အကြင်“ရှိုင်တွာန်” မိစ္ဆာကောင်သည် (သတင်းတစ်စုံတစ်ရာကို) ရုတ်တရက် သုတ်ယူခဲ့မူ တောက်လောင်သော မီးတောက်တစ်ခုသည် ၎င်း၏ နောက်သို့ ထက်ကြပ်မကွာလိုက်ခဲ့လေတော့သတည်း။

فَاسْتَفْتِهِمْ أَهُمْ أَشَدُّ خَلْقًا أَمْ مَّنْ خَلَقْنَا ۚ إِنَّا خَلَقْنٰهُمْ مِّنْ طِيْنٍ لَّازِبٍ ﴿١١﴾

၁၁။ သို့ဖြစ်ပေရာ (အို-နဗီတမန်တော်) အသင်သည် ၎င်းတို့အား မေးမြန်းပါလေ။ ၎င်းတို့အား ဖန်ဆင်းခြင်းသည် ပို၍ခဲယဉ်းလေသလော၊ သို့မဟုတ် ငါအရှင်မြတ် ဖန်ဆင်းတော်မူခဲ့သည့် (ကြယ်နက္ခတ်၊ မိုးကောင်းကင်၊ ပထဝီမြေ၊ အဖန်ဆင်းခံများအား ဖန်ဆင်းတော်မူခြင်းသည် ပို၍ ခဲယဉ်းလေသလော)။ ဧကန်မလွဲ ငါအရှင်မြတ်သည် ၎င်းတို့အား စေးကပ်သော မြေကြီးမြေစေးဖြင့် ဖန်ဆင်းတော်မူခဲ့၏။

بَلْ عَجِبْتَ وَيَسْخَرُوْنَ ﴿١٢﴾

၁၂။ စင်စစ်မှာကား (အို-နဗီတမန်တော်) အသင်သည် (၎င်းတို့၏ ငြင်းပယ်မှုကြောင့်) အံ့သြ၍ နေပေသည်။ သို့ရာတွင် ၎င်းတို့မှာမူကား (အသင့်အား) ပြက်ရယ်သမှု ပြုကြကုန်၏။

وَإِذَا ذُكِّرُوْا لَا يَذْكُرُوْنَ ﴿١٣﴾

၁၃။ ၎င်းပြင် သတိပေးဆုံးမခြင်းကို ခံကြရသော အခါ ၎င်းတို့သည် တရားရကြသည် မဟုတ်ပေ။

---

(၂) မိုးကောင်းကင်ကို ကြယ်များဖြင့် ဆင်ယင်ထားတော် မူသည့်အကြောင်း အထက်ကောင်းကင်ကမ္ဘာ၏ သတင်းများကို ခိုးဝှက်နားထောင်သော ရှိုင်တွာန်များကို မီးတောက်မီးလျှံဖြင့် ပစ်ပေါက်တော် မူသည့်အကြောင်း ကုရ်အာန် (၁၅း၁၆-၁၈)တွင် ပါရှိခဲ့ပေပြီ။ သက်ဆိုင်ရာ အဖွင့်များကိုလည်း အကျယ်ရေးသားခဲ့ပေပြီ။ ပြန်လည်ရှုပါကုန်။

وَإِذَا رَأَوْا آيَةً يَسْتَسْخِرُونَ ﴿١٤﴾

၁၄။ ထို့ပြင် ၎င်းတို့သည် သက်သေလက္ခဏာ တစ်ရပ်ရပ်ကို တွေ့မြင်ကြသောအခါ၊ ပြက်ရယ် ပြောင်လှောင်ကြကုန်၏။

وَقَالُوا إِنْ هَٰذَا إِلَّا سِحْرٌ مُبِينٌ ﴿١٥﴾

၁၅။ ထိုမှတစ်ပါး ၎င်းတို့က ပြောဆိုကြကုန်၏။ ဤသည် ထင်ရှားစွာသော ပဉ္စလက်အတတ်ပညာမျှသာ ဖြစ်ပေသည်။

أَإِذَا مِتْنَا وَكُنَّا تُرَابًا وَعِظَامًا أَإِنَّا لَمَبْعُوثُونَ ﴿١٦﴾

၁၆။ မည်သို့နည်း ကျွန်ုပ်တို့သည် သေဆုံးကြပြီး မြေကြီးဖြစ်သွားကြသောအခါ ကျွန်ုပ်တို့သည် ရှင်ပြန်ထစေခြင်းကို ခံကြရဦးမည်လော။

أَوَآبَاؤُنَا الْأَوَّلُونَ ﴿١٧﴾

၁၇။ ၎င်းပြင် ရှေးသူဟောင်းများဖြစ်ကြသော ကျွန်ုပ်တို့၏အဘ၊ ဘိုး၊ ဘေးတို့သည်လည်း (ရှင်ပြန်ထကြရဦးမည်လော)။

قُلْ نَعَمْ وَأَنْتُمْ دَاخِرُونَ ﴿١٨﴾

၁၈။ (အို-နဗီတမန်တော်) အသင်သည် ပြောကြားပါလေ။ "ဟုတ်ပေသည်" (အသင်တို့သည် အမှန်ပင် ရှင်ပြန်ထကြရပေမည်)။ ၎င်းပြင် အသင်တို့သည် ဂုဏ်ရည် သေးသိမ်သူများလည်း ဖြစ်ကြရပေဦးမည်။

فَإِنَّمَا هِيَ زَجْرَةٌ وَاحِدَةٌ فَإِذَا هُمْ يَنْظُرُونَ ﴿١٩﴾

၁၉။ စင်စစ်မှာကား ယင်းသည် ပြင်းထန်စွာသော အသံတစ်ခုမျှသာလျှင် ဖြစ်ပေမည်။ ထိုအခါ ရုတ်တရက် ၎င်းတို့သည် (ကြောက်ရွံ့ထိတ်လန့်စွာ) ကြည့်ရှုလျက် ရှိကြကုန်အံ့သတည်း။

وَقَالُوا يَا وَيْلَنَا هَٰذَا يَوْمُ الدِّينِ ﴿٢٠﴾

၂၀။ ထိုမှတစ်ပါး ၎င်းတို့က "သြော်-ငါတို့သည် အကျိုးနည်း ပျက်စီးကြရလေခြင်း၊ ဤသည် အစားပေးမည့်နေ့ပါတကား"ဟု ပြောဆိုညည်းညူကြပေမည်။

هَٰذَا يَوْمُ الْفَصْلِ الَّذِي كُنْتُمْ بِهِ تُكَذِّبُونَ ﴿٢١﴾

၂၁။ ဤကား မဟုတ်မမှန်ဟူ၍ အသင်တို့ ငြင်းပယ်လျက်ရှိခဲ့ကြသော စီရင်ဆုံးဖြတ်မည့်နေ့ပင်ဖြစ်ပေသည်။

احْشُرُوا الَّذِينَ ظَلَمُوا وَأَزْوَاجَهُمْ وَمَا كَانُوا يَعْبُدُونَ ﴿٢٢﴾

၂၂။ (ထိုအခါ အလ္လာဟ်အရှင်မြတ်သည် ကောင်းကင်တမန်များအား မိန့်ကြားတော်မူပေမည်)။ အသင်တို့သည် (မိမိတို့ကိုယ်ကို) နှိပ်စက်ကလူပြုခဲ့ကြသောသူတို့အားလည်းကောင်း၊ ထိုသူတို့နှင့် ဝါဒတူဖြစ်ကြသော အဖော်အဖက်တို့အားလည်းကောင်း၊ ထိုသူတို့ ဆည်းကပ်ကိုးကွယ်ခဲ့ကြသည်တို့အားလည်းကောင်း၊ စုရုံးကြလေကုန်။

مِن دُونِ اللَّهِ فَاهْدُوهُمْ إِلَىٰ صِرَاطِ الْجَحِيمِ ﴿٢٣﴾

၂၃။ အလ္လာဟ်အရှင်မြတ်အားစွန့်၍၊ တစ်ဖန် အသင်တို့သည် ၎င်းတို့အားလုံးကိုပင် "ဂျဟန္နမ်" ငရဲဘုံ၏ လမ်းအတိုင်း ခေါ်ဆောင်သွားကြလေကုန်။

وَقِفُوهُمْ ۖ إِنَّهُم مَّسْئُولُونَ ﴿٢٤﴾

၂၄။ ထိုမှတစ်ပါး အသင်တို့သည် ၎င်းတို့အား (အနည်းငယ်) ဆိုင်းငံ့၍ထားကြလေကုန်။ ဧကန်မလွဲ ၎င်းတို့သည် စစ်ဆေးမေးမြန်းခြင်း ခံကြရမည့်သူများပင် ဖြစ်ကြကုန်၏။

مَا لَكُمْ لَا تَنَاصَرُونَ ﴿٢٥﴾

၂၅။ အသင်တို့သည် မည်သည့်အကြောင်းကြောင့် မိမိတို့အချင်းချင်း တစ်ဦးကိုတစ်ဦး ကူညီယိုင်းပင်းခြင်း မပြုကြပေသနည်း။

بَلْ هُمُ الْيَوْمَ مُسْتَسْلِمُونَ ﴿٢٦﴾

၂၆။ စင်စစ်မှာကား ၎င်းတို့သည် ထိုနေ့တွင် ဦးခေါင်း ညွတ်ချ အညံ့ခံကြပေမည်။

وَأَقْبَلَ بَعْضُهُمْ عَلَىٰ بَعْضٍ يَتَسَاءَلُونَ ﴿٢٧﴾

၂၇။ ထိုမှတစ်ပါး ၎င်းတို့သည် မိမိတို့အချင်းချင်း တစ်ဦးဖက်သို့ တစ်ဦးလှည့်ကာ အပြန်အလှန် မေးမြန်းကြပေမည်။

قَالُوا إِنَّكُمْ كُنتُمْ تَأْتُونَنَا عَنِ الْيَمِينِ ﴿٢٨﴾

၂၈။ ၎င်းတို့ (အနက်မှ နောက်လိုက်များ)က (ခေါင်းဆောင်များအား) "ဧကန်စင်စစ် အသင်တို့သည် အရှိန်အစော်ကြီးစွာဖြင့် ကျွန်ုပ်တို့ထံ လာရောက်လေ့ရှိခဲ့ကြသည်" ဟု ပြောဆိုကြပေမည်။

قَالُوا بَل لَّمْ تَكُونُوا مُؤْمِنِينَ ۝٢٩

၂၉။ (ထိုအခါ) ၎င်းတို့(အား ခေါင်းဆောင်များ)က ပြောဆို ဖြေကြားကြပေမည်။ ထိုသို့အလျှင်းမဟုတ်။ စင်စစ်မှာကား အသင်တို့ကိုယ်တိုင် "မုအ်မင်န်" သက်ဝင်ယုံကြည်သူများ မဖြစ်ခဲ့ကြပေ။

وَمَا كَانَ لَنَا عَلَيْكُم مِّن سُلْطَانٍ ۖ
بَلْ كُنتُمْ قَوْمًا طَاغِينَ ۝٣٠

၃၀။ ထိုမှတစ်ပါး ကျွန်ုပ်တို့၌ အသင်တို့အပေါ်ဝယ် ဩဇာအာဏာ တစ်စုံတစ်ရာမျှလည်း မရှိခဲ့ပေ။ စင်စစ်မှာကား အသင်တို့ ကိုယ်တိုင်ပင် လွန်စွာ သောင်းကျန်းဆိုးသွမ်းများ ဖြစ်ခဲ့ကြပေသည်။

فَحَقَّ عَلَيْنَا قَوْلُ رَبِّنَا ۖ إِنَّا
لَذَائِقُونَ ۝٣١

၃၁။ အမှန်သော်ကား "ကျွန်ုပ်တို့သည် ဧကန်အမှန် (ပြစ်ဒဏ်၏) အရသာကို မြည်းစမ်းမည့်သူများ ဖြစ်ကြသည်" ဟူသော ကျွန်ုပ်တို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၏မိန့်ကြားချက်သည် ကျွန်ုပ်တို့အားလုံးအပေါ်၌ မှန်ကန်ကြောင်း ထင်ရှားလေသည်။

فَأَغْوَيْنَاكُمْ إِنَّا كُنَّا غَاوِينَ ۝٣٢

၃၂။ သို့ဖြစ်ပေရာ ကျွန်ုပ်တို့သည် အသင်တို့အား လမ်းလွဲစေခဲ့ကြကုန်၏။ ဧကန်အမှန် ကျွန်ုပ်တို့ ကိုယ်တိုင်လည်း လမ်းလွဲသူများပင် ဖြစ်ခဲ့ကြကုန်၏။

فَإِنَّهُمْ يَوْمَئِذٍ فِي الْعَذَابِ
مُشْتَرِكُونَ ۝٣٣

၃၃။ သို့ဖြစ်သောကြောင့် စင်စစ်ဧကန် ၎င်းတို့အားလုံးသည် ထိုနေ့တွင် ပြစ်ဒဏ်၌ (ခံစား)သူများပင် ဖြစ်ကြပေမည်။

إِنَّا كَذَٰلِكَ نَفْعَلُ بِالْمُجْرِمِينَ ۝٣٤

၃၄။ မလွဲဧကန် ငါအရှင်မြတ်သည် အပြစ်ရှိသူတို့အား ဤအတိုင်းပင် ပြုလုပ်လေ့ရှိတော်မူ၏။

إِنَّهُمْ كَانُوا إِذَا قِيلَ لَهُمْ
لَا إِلَٰهَ إِلَّا اللَّهُ يَسْتَكْبِرُونَ ۝٣٥

၃၅။ မုချဧကန် ၎င်းတို့မှာ အလ္လာဟ်အရှင်မြတ်မှ တစ်ပါး ဆည်းကပ်ကိုးကွယ်ရာဟူ၍ အလျှင်းမရှိဟု ၎င်းတို့အား ပြောဆိုခဲ့သောအခါ ၎င်းတို့သည် မာန်မာန ထောင်လွှားလေ့ရှိခဲ့ကြကုန်၏။

وَيَقُولُونَ أَئِنَّا لَتَارِكُوا آلِهَتِنَا لِشَاعِرٍ مَّجْنُونٍ ۝٣٦

၃၆။ ထိုမှတစ်ပါး ၎င်းတို့က ကျွန်ုပ်တို့သည် ရူးသွပ်သောကဗျာဆရာတစ်ဦး၏ပြောဆိုမှုကြောင့် မိမိတို့၏ ဆည်းကပ် ကိုးကွယ်ရာများကို စွန့်လွှတ်ကြရမည်လောဟု ပြောဆိုလေ့ရှိကြကုန်၏။

بَلْ جَاءَ بِالْحَقِّ وَصَدَّقَ الْمُرْسَلِينَ ۝٣٧

၃၇။ စင်စစ်မှာကား ထို(တမန်တော်မြတ်)သည် အမှန်တရားကို ယူဆောင်ခဲ့သည့်ပြင် (အခြားသော) "ရစူလ်"တမန်တော် အပေါင်းတို့အားလည်း (ဟုတ်မှန်ကြောင်း) ယုံကြည် ထောက်ခံခဲ့ပေသတည်း။

إِنَّكُمْ لَذَائِقُو الْعَذَابِ الْأَلِيمِ ۝٣٨

၃၈။ ဧကန်မလွဲ အသင်တို့အားလုံးသည် နာကျင်ဖွယ်ဖြစ်သော ပြစ်ဒဏ်ကို မြည်းစမ်းကြရမည့်သူများ အမှန်ပင် ဖြစ်ကြကုန်၏။

وَمَا تُجْزَوْنَ إِلَّا مَا كُنتُمْ تَعْمَلُونَ ۝٣٩

၃၉။ သို့ရာတွင် အသင်တို့သည် မိမိတို့ကျင့်မူလျက်ရှိခဲ့ကြသောအမှုကိစ္စများ၏ အစားပေးခြင်းကိုသာလျှင် ခံကြရပေမည်။

إِلَّا عِبَادَ اللَّهِ الْمُخْلَصِينَ ۝٤٠

၄၀။ သို့ရာတွင် ရွေးခြယ်ခြင်းကို ခံခဲ့ကြရသော အလ္လာဟ်အရှင်မြတ်၏ ကျွန်များသည်၊

أُولَٰئِكَ لَهُمْ رِزْقٌ مَّعْلُومٌ ۝٤١

၄၁။ ထိုသူတို့အဖို့မှာမူကား သတ်မှတ်ပြီးဖြစ်သော အစာအာဟာရသည် ရှိပေသည်။

فَوَاكِهُ ۖ وَهُم مُّكْرَمُونَ ۝٤٢

၄၂။ သစ်သီးဝလံများပင်၊ ထိုမှတစ်ပါး ၎င်းတို့သည် ဂုဏ်အင် ချီးမြှင့်ခံကြရသူများ ဖြစ်ကြပေမည်။

فِي جَنَّاتِ النَّعِيمِ ۝٤٣

၄၃။ စည်းစိမ်ချမ်းသာနှင့် ပြည့်စုံသောဥယျာဉ်များ၌၊

عَلَىٰ سُرُرٍ مُّتَقَابِلِينَ ۝٤٤

၄၄။ သလွန်များထက်ဝယ် မျက်နှာချင်းဆိုင် ထိုင်လျက် ရှိကြပေမည်။

يُطَافُ عَلَيْهِم بِكَأْسٍ مِّن مَّعِينٍ ﴿٤٥﴾

၄၅။ ၎င်းတို့ရှေ့ဝယ် သွင်သွင်စီးလျက်ရှိသော အရက်ဖြင့်ပြည့်လျှံနေသော ဖလားသည် လှည့်ပတ်လျက်ရှိချေမည်။

بَيْضَاءَ لَذَّةٍ لِّلشَّارِبِينَ ﴿٤٦﴾

၄၆။ အရောင်အသွေးဖြူသော၊ သောက်သုံးသူအဖို့ အရသာနှင့်ပြည့်စုံသော၊

لَا فِيهَا غَوْلٌ وَلَا هُمْ عَنْهَا يُنزَفُونَ ﴿٤٧﴾

၄၇။ ထိုအရက်ကြောင့် မူးဝေခြင်း–ခေါင်းခဲခြင်းလည်း ရှိမည်မဟုတ်ပေ။ ထိုနည်းတူစွာ ယင်းအရက်ကြောင့် ၎င်းတို့သည် သတိလစ်ကြရမည်လည်း မဟုတ်ပေ။

وَعِندَهُمْ قَاصِرَاتُ الطَّرْفِ عِينٌ ﴿٤٨﴾

၄၈။ ထိုမှတစ်ပါး ၎င်းတို့ထံတွင် မျက်စိကို အောက်သို့ နှိမ့်ချထားသော၊ မျက်စိပြူး၍လှပသောကြင်ဘက်များလည်း ရှိကြပေမည်။

كَأَنَّهُنَّ بَيْضٌ مَّكْنُونٌ ﴿٤٩﴾

၄၉။ ထိုကြင်ဘက်များမှာကား လျှို့ဝှက်ဖုံးအုပ်လျက် ထားရှိသော ဥများပမာ ဖြစ်ကြကုန်အံ့သတည်း။

فَأَقْبَلَ بَعْضُهُمْ عَلَىٰ بَعْضٍ يَتَسَاءَلُونَ ﴿٥٠﴾

၅၀။ ထို့နောက် ၎င်းတို့သည် မိမိတို့အချင်းချင်း တစ်ဦးဘက်သို့ တစ်ဦးလှည့်ကာ အပြန်အလှန် မေးမြန်းကြပေမည်။

قَالَ قَائِلٌ مِّنْهُمْ إِنِّي كَانَ لِي قَرِينٌ ﴿٥١﴾

၅၁။ ၎င်းတို့အနက် ပြောဆိုသူတစ်ဦးက (ဤသို့) ပြောဆိုပေမည်။ ကျွန်ုပ်တွင် အဖော်တစ်ယောက် ရှိခဲ့ဖူး၏။

يَقُولُ أَئِنَّكَ لَمِنَ الْمُصَدِّقِينَ ﴿٥٢﴾

၅၂။ ထိုအဖော်သည် ကျွန်ုပ်အား ပြောဆို(မေးမြန်း)လေ့ရှိ၏။ အသင်သည်လည်း ("ကိယာမတ်" ရှင်ပြန်ထမည့်နေ့ကို) ယုံကြည်ထောက်ခံသူတစ်ဦး ဖြစ်လေသလော။

ءَاِذَا مِتْنَا وَكُنَّا تُرَابًا وَّعِظَامًا ءَاِنَّا لَمَدِيْنُوْنَ ﴿٥٣﴾

၅၃။ ကျွန်ုပ်တို့သည် သေဆုံး၍(အသားအရေတို့မှာ) မြေကြီးဖြစ်သွားပြီးလျှင် အရိုးများသာလျှင် ကျန်ရစ်သောအခါ အမှန်ပင် ကျွန်ုပ်တို့သည် အစားပေးခြင်း ခံကြရသူများ ဖြစ်ကြရမည်လော။

قَالَ هَلْ اَنْتُمْ مُّطَّلِعُوْنَ ﴿٥٤﴾

၅၄။ (ထိုအခါ) ထိုအရှင်မြတ်သည် မိန့်ကြားတော်မူပေမည်။ (တစ်နည်း) [“ဂျန္နတ်” သုခဘုံ၌ အတူရှိနေသောအဖော်တစ်ဦးက ပြောဆိုပေမည်။] အသင်တို့သည် (ထိုအဖော်အား)ချောင်း၍ ကြည့်လိုကြလေသလော။

فَاطَّلَعَ فَرَاٰهُ فِيْ سَوَآءِ الْجَحِيْمِ ﴿٥٥﴾

၅၅။ ထို့နောက် ထိုသူသည် ချောင်း၍ကြည့်သောအခါ ထိုအဖော်အား “ဂျဟန္နမ်” ငရဲဘုံ၏အလယ်၌ တွေ့မြင်ပေမည်။

قَالَ تَاللّٰهِ اِنْ كِدْتَّ لَتُرْدِيْنِ ﴿٥٦﴾

၅၆။ (ထိုအခါ) ၎င်းသည် ထိုအဖော်အား (ဤသို့) ပြောဆိုပေမည်။ အလ္လာဟ်အရှင်မြတ်၏ “ကစမ်” ကျိန်စင်စစ် အသင်သည် ကျွန်ုပ်အား ဖျက်ဆီးလုနီးနီး ဖြစ်ခဲ့ပေသည်။

وَلَوْلَا نِعْمَةُ رَبِّيْ لَكُنْتُ مِنَ الْمُحْضَرِيْنَ ﴿٥٧﴾

၅၇။ အမှန်သော်ကား အကယ်၍သာ ကျွန်ုပ်အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၏ ကျေးဇူးတော်သာလျှင် မရှိခဲ့မူ အမှန်ပင် ကျွန်ုပ်သည်လည်း ဖမ်းဆီးအရေးယူခြင်းခံခဲ့ကြရသောသူတို့တွင် အပါအဝင် ဖြစ်မည်သာ။

اَفَمَا نَحْنُ بِمَيِّتِيْنَ ﴿٥٨﴾

၅၈။ သို့ဖြစ်လျှင် ကျွန်ုပ်တို့သည် သေဆုံးကြအံ့သောသူများ မဟုတ်တော့ပြီလော။

اِلَّا مَوْتَتَنَا الْاُوْلٰى وَمَا نَحْنُ بِمُعَذَّبِيْنَ ﴿٥٩﴾

၅၉။ ကျွန်ုပ်တို့သည် ပထမအကြိမ် သေဆုံးခဲ့ကြခြင်းမှအပ၊ ၎င်းပြင် ကျွန်ုပ်တို့သည် ပြစ်ဒဏ်ပေးခြင်းခံကြရမည့်သူများလည်း မဟုတ်ပြီ။

إِنَّ هَٰذَا لَهُوَ الْفَوْزُ الْعَظِيمُ ﴿٦٠﴾

၆၀။ ဧကန်မလွဲ ဤသည်ပင်လျှင် ကြီးကျယ်စွာသော အောင်မြင်မှုတည်း။

لِمِثْلِ هَٰذَا فَلْيَعْمَلِ الْعَامِلُونَ ﴿٦١﴾

၆၁။ (ကောင်းမြတ်သော အကျင့်သီလများကို) ကျင့်မှု ဆောက်တည်ကြသောသူတို့သည် ဤကဲ့သို့သော (အောင်မြင်မှုရယူရန်) အလို့ငှာ ကျင့်မှု ဆောက်တည်ကြရာသတည်း။

أَذَٰلِكَ خَيْرٌ نُّزُلًا أَمْ شَجَرَةُ الزَّقُّومِ ﴿٦٢﴾

၆၂။ ဤသည့်ဧည့်ခံပွဲသည် ပိုမို၍ကောင်းမြတ်လေသလော၊ သို့တည်းမဟုတ် ရှားစောင်းကြီး ဆူးပင်သည် ပိုမို၍ ကောင်းမြတ်လေသလော။

إِنَّا جَعَلْنَاهَا فِتْنَةً لِّلظَّالِمِينَ ﴿٦٣﴾

၆၃။ ဧကန်အမှန် ငါအရှင်မြတ်သည် ယင်းသစ်ပင်ကို မတရားကျူးလွန်ကြသော သူတို့အဖို့ စမ်းသပ်မှုတစ်ရပ်ပင် ပြုလုပ်တော်မူခဲ့၏။

إِنَّهَا شَجَرَةٌ تَخْرُجُ فِي أَصْلِ الْجَحِيمِ ﴿٦٤﴾

၆၄။ ဧကန်စင်စစ် ၎င်းမှာ "ဂျဟန္နမ်" ငရဲဘုံ၏ အရင်း၌ပေါက်ရောက်သော သစ်ပင်တစ်ပင်ဖြစ်လေ၏။

طَلْعُهَا كَأَنَّهُ رُءُوسُ الشَّيَاطِينِ ﴿٦٥﴾

၆၅။ ယင်းသစ်ပင်၏အသီးမှာ "ရှိုင်တွာန်" မိစ္ဆာကောင်များ၊ မြွေများ၏ ပါးပျဉ်းများကဲ့သို့ပင်ဖြစ်ပေ၏။

فَإِنَّهُمْ لَآكِلُونَ مِنْهَا فَمَالِئُونَ مِنْهَا الْبُطُونَ ﴿٦٦﴾

၆၆။ သို့ဖြစ်ပေရာ ဧကန်အမှန် ၎င်းတို့သည် ယင်းသစ်ပင်မှ အမှန်ပင် စားသုံးကြပေမည်။ ထို့နောက် ၎င်းတို့သည် ယင်းသစ်ပင်ဖြင့် ဝမ်းဗိုက်များကို ဖြည့်ကြပေမည်။

---

(၁) ငရဲဘုံတွင် "ဇက္ကူမ်" ပင်၊

အထက်တွင် ဂျန္နတ် အမတသုခဘုံသားတို့အား အမတသုခများနှင့် မည်သို့မည်ပုံ ဧည့်ခံထားတော်မူမည့်အကြောင်း ပါရှိသည်။ ဤအာယတ်တော်များတွင် ငရဲသားတို့အား အတိုင်းမသိ ကြီးမားဆိုးရွားလှသော ဒုက္ခများဖြင့် မည်သို့မည်ပုံ ဧည့်ခံထားတော်မူမည့်အကြောင်းကို မိန့်ဆိုထားတော်မူသည်။

ငရဲဘုံတွင် သုခဟူ၍ အဘယ်မှာလျှင် ရှိအံ့နည်း။ ငရဲဘုံတွင် အစစအရာရာအားလုံးမှာ ဒုက္ခချည်းသာ။ ငရဲဘုံတွင် အပင်တစ်မျိုးရှိသည်။ "ဇက္ကူမ်"ဟုခေါ်သည်။ ပါရှားဘာသာတွင် "ဟန်ဇွာလ်"ဟုခေါ်သည်။ ➤➤

ثُمَّ إِنَّ لَهُمْ عَلَيْهَا لَشَوْبًا مِّنْ حَمِيمٍ ﴿٦٧﴾

၆၇။ ထို့နောက် ထိုသူတို့သည် ၎င်း၏အပေါ်၌ ဝါ(ထိုအပင်ကို စားသုံးဖြည့်တင်းပြီးနောက်) ကျိုက်ကျိုက်ဆူပွက်သောရေနွေးကို ရောစပ်(၍သောက်စေ)ခြင်းကို ခံကြရပေမည်။

ثُمَّ إِنَّ مَرْجِعَهُمْ لَإِلَى الْجَحِيمِ ﴿٦٨﴾

၆၈။ ထို့နောက် ဧကန်မုချ ၎င်းတို့သည် "ဂျဟန္နမ်" ငရဲဘုံသို့ အမှန်ပင် ပြန်ကြရပေမည်။

إِنَّهُمْ أَلْفَوْا آبَاءَهُمْ ضَالِّينَ ﴿٦٩﴾

၆၉။ ဧကန်စင်စစ် ၎င်းတို့သည် မိမိတို့၏အဘ၊ ဘိုး၊ ဘေးတို့အား လမ်းမှားသူများအဖြစ် တွေ့ရှိခဲ့ကြကုန်၏။

فَهُمْ عَلَىٰ آثَارِهِمْ يُهْرَعُونَ ﴿٧٠﴾

၇၀။ သို့ဖြစ်ပေရာ ၎င်းတို့သည် ထိုအဘ၊ ဘိုး၊ ဘေးတို့၏ခြေရာများပေါ်၌ လျင်မြန်စွာ ပြေးလျှောက်ခဲ့ကြလေသတည်း။

وَلَقَدْ ضَلَّ قَبْلَهُمْ أَكْثَرُ الْأَوَّلِينَ ﴿٧١﴾

၇၁။ အမှန်သော်ကား မုချဧကန် ၎င်းတို့အလျင်လည်း ရှေးသူဟောင်းတို့အနက် များစွာသောသူတို့မှာ လမ်းမှားခဲ့ကြကုန်၏။

---

➤➤ အာရဗီဘာသာတွင် "ထိုပ်ဟ်" ဟုခေါ်သည်။ ပုံပန်းသဏ္ဍာန်မှာ အလွန်ဆိုးရွားသည်။ အသီးမှာ မြွေပါးပျဉ်းနှင့် တူသည်။ အမြစ်နံ့အရသာ လွန်စွာခါးသည်။ အဆိပ် အလွန်ပြင်းသည်။ ငရဲသားတို့သည် မနေနိုင်အောင် ဆာလောင်မွတ်သိပ်ကြသည့်အခါ ထိုအပင်ကိုပင် မဖြစ်သာသည့်အဆုံး၌ စားကြရမည်။ ယင်းအပင်ကို စားကြသည့်အခါ တစ်စုံတစ်ရာအဆာပြေခြင်း မရှိသည်သာမက အတိုင်းမသိ ဆိုးရွားသော ခံစားမှုဒဏ်ကို မရှုမလှ ခံစားကြရမည်။ ယင်းအပင်ကို စားရခြင်းလည်းတစ်ဒုက္ခ။ စားပြီးနောက် ခံစားရမည့် ခံစားချက်မှာ လည်း တစ်ဒုက္ခ။ ငရဲဘုံမှာ ဒုက္ခချည်းသာ။

ငရဲဘုံတွင် "ဇက္ကူမ်"ပင် ပေါက်လျက်ရှိကြောင်း ကုရ်အာန်ကျမ်းမြတ်တွင် လာရှိသည်ကို ကြားသိရသောအခါ အချို့ကာဖိရ်များက ငရဲမီးတွင် စိမ်းစိုလတ်ဆတ်သောအပင် အဘယ်သို့လျှင် ပေါက်နိုင်အံ့နည်းဟု ဆိုကြသည်။ အလ္လာဟ်အရှင်မြတ်သည် တန်ခိုးတော်အနန္တရှင် ဖြစ်တော်မူသည်။ အမျိုးမျိုး အစားစား၊ အဆန်းဆန်းအပြားပြား ဖန်ဆင်းတော်မူသည်။ လူကို မြေနှင့်ဖန်ဆင်းတော်မူသည်။ ကောင်းကင်တမန်တို့အား လင်းရောင်ခြည်ဖြင့် ဖန်ဆင်းတော်မူသည်။ "ဂျင်န်"များကို မီးဖြင့် ဖန်ဆင်းတော်မူသည်။ အခြားအရာခပ်သိမ်းတို့ကို ရေဖြင့် ဖန်ဆင်းတော်မူသည်။ ထိုသို့သော အရှင်မြတ်အဖို့ ငရဲဘုံတွင် "ဇက္ကူမ်"ပင် စိုက်ထားခြင်းမှာ အဘယ်သို့လျှင် အခက်အခဲ ရှိအံ့နည်း။

وَلَقَدْ أَرْسَلْنَا فِيهِم مُّنذِرِينَ ﴿٧٢﴾

၇၂။ စင်စစ်သော်ကား ဧကန်မလွဲ ငါအရှင်မြတ်သည် ၎င်းတို့တွင် သတိပေးနှိုးဆော်သူတို့အား စေလွှတ်တော်မူခဲ့၏။

فَانظُرْ كَيْفَ كَانَ عَاقِبَةُ الْمُنذَرِينَ ﴿٧٣﴾

၇၃။ သို့ဖြစ်ပေရာ (အို-နဗီတမန်တော်) အသင်သည် သတိပေး နှိုးဆော်ခြင်းခံခဲ့ကြရသောသူတို့၏ နောက်ဆုံးအကျိုးမှာ မည်ကဲ့သို့ဖြစ်ခဲ့သည်ကိုရှုပါလေ။

إِلَّا عِبَادَ اللَّهِ الْمُخْلَصِينَ ﴿٧٤﴾

၇၄။ သို့ရာတွင် ရွေးချယ်ခြင်း ခံခဲ့ကြရသော အလ္လာဟ်အရှင်မြတ်၏ ကျွန်များမှာမူကား (လွတ်မြောက်ခဲ့ကြပေသတည်း)။

وَلَقَدْ نَادَانَا نُوحٌ فَلَنِعْمَ الْمُجِيبُونَ ﴿٧٥﴾

၇၅။ ၎င်းပြင် ဧကန်မလွဲ (နဗီတမန်တော်) "နူးဟ်" သည် ငါအရှင်မြတ်အား ဟစ်ခေါ်ခဲ့လေရာ ငါအရှင်မြတ်သည် (နူးဟ်၏ပန်ကြားချက်ကို) အဘယ်မျှလောက် ကောင်းစွာ နားထောင်တော်မူသောအရှင်မြတ်ဖြစ်တော်မူဘိသနည်း။

وَنَجَّيْنَاهُ وَأَهْلَهُ مِنَ الْكَرْبِ الْعَظِيمِ ﴿٧٦﴾

၇၆။ ထို့ပြင် ငါအရှင်မြတ်သည် ထိုနူးဟ်အားလည်းကောင်း၊ ထိုနူးဟ်၏ အိမ်သူအိမ်သားများအားလည်းကောင်း၊ ကြီးကျယ်လှစွာသောပူပင်သောကမှ လွတ်မြောက်စေတော်မူခဲ့သည်။

وَجَعَلْنَا ذُرِّيَّتَهُ هُمُ الْبَاقِينَ ﴿٧٧﴾

၇၇။ ထိုမှတစ်ပါး ငါအရှင်မြတ်သည် ထိုနူးဟ်၏ အဆက်အနွယ်ကိုသာလျှင် (မသေမကြေ မပျောက်မပျက်) ကျန်ရစ်စေတော်မူခဲ့၏။

وَتَرَكْنَا عَلَيْهِ فِي الْآخِرِينَ ﴿٧٨﴾

၇၈။ ၎င်းပြင် ငါအရှင်မြတ်သည် နောင်လာနောက်သားတို့တွင် ထို"နူးဟ်"နှင့်ပတ်သက်၍ (၎င်းအားကောင်းမွန်စွာ သတိရစေခြင်းကို) ရှိစေတော်မူခဲ့၏။

سَلٰمٌ عَلٰى نُوْحٍ فِى الْعٰلَمِيْنَ ﴿٧٩﴾

၇၉။ ခပ်သိမ်းကုန်သော ကမ္ဘာသူ ကမ္ဘာသားများ တွင် “နူးဟ်” ၏အပေါ်ဝယ် “စလာမ်” ချမ်းမြေ့ သာယာမှုသည် ကျရောက်ပါစေ။

اِنَّا كَذٰلِكَ نَجْزِى الْمُحْسِنِيْنَ ﴿٨٠﴾

၈၀။ ကေန်မလွဲ ငါအရှင်မြတ်သည် သူတော်ကောင်း တို့အား ဤနည်းအတိုင်းပင် အစားပေးတော်မူ၏။

اِنَّهٗ مِنْ عِبَادِنَا الْمُؤْمِنِيْنَ ﴿٨١﴾

၈၁။ ကေန်စင်စစ် ထိုနူးဟ်သည် ငါအရှင်မြတ်၏ “မုအ်မင်န်” သက်ဝင်ယုံကြည်ကုန်သောကျွန်တို့တွင် အပါအဝင်ဖြစ်၏။

ثُمَّ اَغْرَقْنَا الْاٰخَرِيْنَ ﴿٨٢﴾

၈၂။ ထို့နောက် ငါအရှင်မြတ်သည် အခြားသော သူတို့အား နှစ်မြှုပ်တော်မူခဲ့ပေသတည်း။

وَاِنَّ مِنْ شِيْعَتِهٖ لَاِبْرٰهِيْمَ ﴿٨٣﴾

၈၃။ ထို့ပြင် ကေန်မလွဲ ထို(နဗီတမန်တော်) နူးဟ်၏လမ်းစဉ်ကိုလိုက်သူတို့တွင် (နဗီတမန်တော် “အီဗ်ရာဟီမ်” သည်လည်း တစ်ဦးအပါအဝင်ဖြစ်၏။

اِذْ جَآءَ رَبَّهٗ بِقَلْبٍ سَلِيْمٍ ﴿٨٤﴾

၈၄။ (ပြန်လည်သတိရကြလေကုန်၊) အကြင်အခါ ဝယ် ထိုအီဗ်ရာဟီမ်သည် (ဒွိဟသံသယ စသောရောဂါ များ) ကင်းရှင်းသော စိတ်နှလုံးနှင့်တကွ မိမိအား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်ဘက်သို့ လှည့်ခဲ့ လေ၏။

اِذْ قَالَ لِاَبِيْهِ وَقَوْمِهٖ مَاذَا تَعْبُدُوْنَ ﴿٨٥﴾

၈၅။ တစ်ရံရောအခါဝယ် ထို (နဗီတမန်တော်) အီဗ်ရာဟီမ်သည် မိမိဖခင်အားလည်းကောင်း၊ မိမိ အမျိုးသားတို့အားလည်းကောင်း၊ ပြောဆို (မေးမြန်း) ခဲ့၏။ အသင်တို့သည် မည်သည့်အရာကို ကိုးကွယ် နေကြသနည်း။

اَئِفْكًا اٰلِهَةً دُوْنَ اللّٰهِ

၈၆။ အသင်တို့သည် အလ္လာဟ်အရှင်မြတ်အားစွန့်၍ (မိမိတို့ကိုယ်တိုင်) ကြံဖန်ပြုလုပ်ထားသောကိုးကွယ်ရာ

تُرِيدُونَ ﴿٨٦﴾

များကို (ဆည်းကပ်ကိုးကွယ်ရန်) လိုလားကြလေသလော။

فَمَا ظَنُّكُم بِرَبِّ الْعَالَمِينَ ﴿٨٧﴾

**၈၇။** သို့ဖြစ်လျှင် စကြာဝဠာခပ်သိမ်းတို့ကို ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်နှင့် ပတ်သက်၍ အသင်တို့သည် မည်သို့ ယူဆကြပေသနည်း။

فَنَظَرَ نَظْرَةً فِي النُّجُومِ ﴿٨٨﴾

**၈၈။** ထို့နောက် အီဗ်ရာဟီမ်သည် ကြယ်နက္ခတ်များကို တစ်ချက်စူးစိုက်၍ ကြည့်ခဲ့လေ၏။

فَقَالَ إِنِّي سَقِيمٌ ﴿٨٩﴾

**၈၉။** ထို့နောက် "ဧကန်အမှန် ငါသည် စိတ်ထိခိုက်သူ ဖြစ်သည်" ဟု ပြောဆိုခဲ့လေ၏။

فَتَوَلَّوْا عَنْهُ مُدْبِرِينَ ﴿٩٠﴾

**၉၀။** ထို့နောက် ၎င်းတို့သည် ထိုအီဗ်ရာဟီမ်၏ထံမှ ကျောခိုင်းလျက် လှည့်ပြန်ခဲ့ကြကုန်၏။

فَرَاغَ إِلَىٰ آلِهَتِهِمْ فَقَالَ أَلَا تَأْكُلُونَ ﴿٩١﴾

**၉၁။** ထို့နောက် ထိုအီဗ်ရာဟီမ်သည် ထိုအမျိုးသားတို့၏ ကိုးကွယ်ရာ(ဆင်းတု)များထံ ဝင်ရောက်ခဲ့ပြီးလျှင် (ဤသို့)ပြောဆိုခဲ့၏။ အသင်တို့သည် အဘယ်ကြောင့် မစားကြသနည်း။

مَا لَكُمْ لَا تَنطِقُونَ ﴿٩٢﴾

**၉၂။** အသင်တို့သည် မည်သည့်အကြောင်းကြောင့် စကားမပြောကြသနည်း။

فَرَاغَ عَلَيْهِمْ ضَرْبًا بِالْيَمِينِ ﴿٩٣﴾

**၉၃။** တစ်ဖန် ထိုအီဗ်ရာဟီမ်သည် ယင်းဆင်းတုတော်များအပေါ်သို့ အရှိန်ပြင်းစွာ သွားရောက်၍ လက်ယာလက်ဖြင့် ရိုတ်ခတ်လေတော့၏။ [၁]

---

(၁) <u>တမန်တော် အီဗ်ရာဟီးမ်၏ မာယာကာရ၊</u>

တမန်တော်အီဗ်ရာဟီမ်၏ အမျိုးသားများသည် (Astronomy)နက္ခတ်တာရာ အတတ်ပညာကို အထူးလိုက်စားခဲ့ကြသည်။ တစ်နေ့သော် တမန်တော်အီဗ်ရာဟီမ်၏ အမျိုးသားများသည် မြို့ပြင်ဘက်၌ ကျင်းပလေ့ရှိသော မိမိတို့၏ ရိုးရာပွဲလမ်းသဘင်သို့ သွားရန်စီစဉ်နေခဲ့ကြ၏။ တမန်တော် အီဗ်ရာဟီမ်အားလည်း ခေါ်သွားလိုခဲ့ကြ၏။ ထိုအခါ တမန်တော်အီဗ်ရာဟီမ်က နက္ခတ်တာရာများကို စူးစိုက်ကြည့်၍ ➤➤

فَأَقْبَلُوٓا۟ إِلَيْهِ يَزِفُّونَ ﴿٩٤﴾

၉၄။ ထို့နောက် ၎င်းအမျိုးသားတို့သည် ထို အီဗ်ရာဟီမ်၏ထံသို့ အပြေးအလွှားလာခဲ့ကြလေသည်။

قَالَ أَتَعْبُدُونَ مَا تَنْحِتُونَ ﴿٩٥﴾

၉၅။ ထိုအခါ ထိုသူ(အီဗ်ရာဟီမ်)က (ဤသို့) ပြောကြားခဲ့၏။ အသင်တို့သည် မိမိတို့ကိုယ်တိုင် ထုလုပ်ထားကြသောအရာများကို ဆည်းကပ်ကိုးကွယ် ကြလေသလော။

وَٱللَّهُ خَلَقَكُمْ وَمَا تَعْمَلُونَ ﴿٩٦﴾

၉၆။ စင်စစ်သော်ကား အလ္လာဟ်အရှင်မြတ်သည် သာလျှင် အသင်တို့အားလည်းကောင်း၊ အသင်တို့ ပြုလုပ်ကျင့်မူကြသောအရာဝတ္ထုများကိုလည်းကောင်း၊ (အားလုံးကိုပင်) ဖန်ဆင်းတော်မူခဲ့၏။

قَالُوا۟ ٱبْنُوا۟ لَهُۥ بُنْيَـٰنًا فَأَلْقُوهُ فِى ٱلْجَحِيمِ ﴿٩٧﴾

၉၇။ ထို(အခါ) အမျိုးသားတို့က "အသင်တို့သည် ထိုအီဗ်ရာဟီမ်၏အဖို့ အဆောက်အအုံတစ်ခုကို တည် ဆောက်ပြီးလျှင်၊ ၎င်းအား မီးတောက်မီးလျှံအတွင်းသို့ ပစ်ချကြလေကုန်" ဟု ပြောဆိုခဲ့ကြကုန်၏။

---

➤➤ "ကျွန်ုပ် နေမကောင်းပါ" ဟုပြောဆိုခဲ့၏။ (လူသားတို့၏ ကျန်းမာရေးသည် အခါခပ်သိမ်း အဖက်ဖက်မှ လုံးဝကောင်းသည် ဟူ၍ကား ရှားလှပေသည်။ ရုပ်ပိုင်းကောင်းသည်ထား စိတ်ပိုင်းမကောင်း၊ စိတ်ပိုင်း ကောင်းသည်ထား ရုပ်ပိုင်း မကောင်း၊ နည်းများမဆို တစ်နည်းတစ်ဖုံ ကျန်းမာရေးသည် ချို့တဲ့သည်သာ ဖြစ်သည်။ ထို့ပြင်တစ်ဝ တမန်တော် အီဗ်ရာဟီမ်သည် မိမိ၏အမျိုးသားများ၏ အယူဝါဒ လွဲမှားမှုကို တွေး၍ တွေး၍ ဆွေးလျက်ရှိသည်။ တမန်တော် အီဗ်ရာဟီမ်၏ စိတ်နှလုံးသားသည် အဘယ်မှာလျှင် ကြည်လင်ရွှင်လန်း နိုင်အံ့နည်း။)

အသို့ပင်ရှိစေ၊ တမန်တော် အီဗ်ရာဟီမ်သည် မိမိ၏အမျိုးသားများ၏ ကိုးကွယ်ရာများ၌ တစ်စုံတစ်ရာ စွမ်းရည်သတ္တိ မရှိသည်ကို မျက်ဝါးထင်ထင် လက်တွေ့ပြသနိုင်ရန် မြို့တွင်း၌တစ်ကိုယ်တည်း နေခဲ့လိုသည့်အတွက် မာယာကာရ၊ ဒွါဒိပ္ပယ အားဖြင့် ပရိယာယ်သုံးကာ "ကျွန်ုပ် နေမကောင်းပါ" ဟုဆိုကာ တစ်ဦးတည်း နေခဲ့လေသည်။ တမန်တော် အီဗ်ရာဟီမ်၏ အမျိုးသားများသည်လည်း တမန်တော်အီဗ်ရာဟီမ်အား ထား၍ မိမိတို့၏ ပွဲလမ်းသဘင်သို့ ထွက်ခွာသွားခဲ့ကြလေသည်။ ထိုအခါ တမန်တော်အီဗ်ရာဟီမ်သည် အခွင့်ကောင်းရကာ မိမိတို့၏အမျိုးသားများ၏ ကိုးကွယ်ရာများကို ဖျက်ဆီးပစ်ခဲ့လေသည်။

ဤအကြောင်း ကုရ်အာန် (၂၁း၅၁-၇၀)တွင် ပါရှိခဲ့ချေပြီ။ သက်ဆိုင်ရာ အဖွင့်များကိုလည်း အကျယ်ရေးသားခဲ့ပေပြီ။

فَأَرَادُوا بِهِ كَيْدًا فَجَعَلْنَاهُمُ الْأَسْفَلِينَ ﴿٩٨﴾

၉၈။ အချုပ်မှာ ၎င်းတို့သည် ထိုအီဗ်ရာဟီမ်နှင့် ပတ်သက်၍ မကောင်းသောအကြံအစည်ကို ကြံရွယ်ခဲ့ကြသော်လည်း ငါအရှင်မြတ်သည် ၎င်းတို့အား (အရေး)နိမ့်စေတော်မူခဲ့ပေသတည်း။

وَقَالَ إِنِّي ذَاهِبٌ إِلَىٰ رَبِّي سَيَهْدِينِ ﴿٩٩﴾

၉၉။ ထို့နောက် ထိုအီဗ်ရာဟီမ်သည် (ဤသို့) ပြောကြားခဲ့လေ၏။ ဧကန်အမှန် ငါသည် ငါ့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်အထံတော်သို့ သွားတော့မည်။ ထိုအရှင်မြတ်သည် ငါ့အား (လိုရာပန်းတိုင်သို့) အမှန်ပင် ပို့ဆောင်တော်မူပေမည်။

رَبِّ هَبْ لِي مِنَ الصَّالِحِينَ ﴿١٠٠﴾

၁၀၀။ အို-ကျွန်တော်မျိုးအား ဖန်ဆင်း မွေးမြူတော်မူသောအရှင်၊ အရှင်မြတ်သည် ကျွန်တော်အား သူတော်ကောင်း (သား)တစ်ယောက် ချီးမြှင့်ပေးသနားတော်မူပါ။ [၁]

فَبَشَّرْنَاهُ بِغُلَامٍ حَلِيمٍ ﴿١٠١﴾

၁၀၁။ သို့ဖြစ်ပေရာ ငါအရှင်မြတ်သည် ထိုအီဗ်ရာဟီမ်အား ခန္တီတရားနှင့် ပြည့်စုံသောသားတော်တစ်ပါး၊ (ချီးမြှင့်တော်မူမည် ဖြစ်ကြောင်း) ဝမ်းမြောက်ဖွယ်သတင်းပေးတော်မူခဲ့၏ ။

---

(၁) တမန်တော်အီဗ်ရာဟီမ်သည် အစ္စလာမ်အတွက် မီးတင်ရှို့ခြင်းကိုပင် ခံခဲ့ရရှာပြီ။ သို့ပင် အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်ဖြင့် မီးပုံတွင်းမှ ဘေးမသီရန်မခဘဲ အေးချမ်းစွာ ထွက်လာခဲ့ပေပြီ။ ယခုမူ တမန်တော်အီဗ်ရာဟီမ်သည် မိမိ၏အမျိုးသားများဘက်မှ မက်ကင်းချေပြီ။ ဖခင်ကြီးကလည်း မိမိအပေါ်၌ ယခင်ကထက်ပင် ပိုမို၍ ပြင်းပြင်းထန်ထန် အကျပ်ကိုင်လာချေပြီ။ တမန်တော်အီဗ်ရာဟီမ်အဖို့ တိုင်းပြည်စွန့်ရန်ပင် ရှိတော့သည်။ တမန်တော် အီဗ်ရာဟီမ်သည် မိမိ၏တိုင်းပြည်ကိုစွန့်၍ တိုင်းတစ်ပါးသို့ ထွက်ခွာသွားရန် ရည်ရွယ်သည့်အခါ အလ္လာဟ်အရှင်မြတ်သည် တမန်တော်ကြီးအား ဆီးရီးယားပြည်သို့ ရွှေ့ပြောင်းနေထိုင်ရန် ညွှန်ပြတော်မူခဲ့လေသည်။

တမန်တော် အီဗ်ရာဟီမ်သည် ယင်းသို့ တိုင်းပြည်ကိုစွန့်ရသဖြင့် ဆွေကွဲမျိုးကွဲ ဖြစ်ရသည့်အခါ မိမိ၏ "အစ္စလာမ်" သာသနာ့လမ်းစဉ်ကို အစဉ်တစိုက် ဆက်လက် ထိန်းသိမ်းသွားနိုင်ရန်အလို့ငှာ သားဆုပန်ခဲ့လေသည်။ ထိုအခါ အလ္လာဟ်အရှင်မြတ်သည် တမန်တော်ကြီးအား ဦးစွာပထမ ခန္တီတရားနှင့် ပြည့်စုံသော သားတော်တစ်ပါးကို ပေးသနားတော်မူခဲ့လေသည်။ ထိုသားတော်ကား အခြားမဟုတ်။ ကုရ်ဗာနီပြုလုပ်ရန် မိမိ၏အသက်ကို အံ့ဖွယ်သရဲ ပုံအပ်ခဲ့သော သားတော်အစ္စမာအီလ်ပင်။

فَلَمَّا بَلَغَ مَعَهُ السَّعْيَ قَالَ يَٰبُنَيَّ إِنِّيٓ أَرَىٰ فِي الْمَنَامِ أَنِّيٓ أَذْبَحُكَ فَانظُرْ مَاذَا تَرَىٰ ۚ قَالَ يَٰٓأَبَتِ افْعَلْ مَا تُؤْمَرُ ۖ سَتَجِدُنِيٓ إِن شَآءَ اللَّهُ مِنَ الصَّٰبِرِينَ ﴿١٠٢﴾

၁၀၂။ ၎င်းနောက် ထိုသားတော်သည် ထိုအီဗ်ရာဟီမ်နှင့်အတူ သွားလာပြေးလျှောက်နိုင်သော အရွယ်သို့ ရောက်သောအခါ ထိုအီဗ်ရာဟီမ်သည် (ဤသို့) ပြောကြားခဲ့လေ၏။ "အို-ချစ်သား ငါသည် ဧကန်မလွဲ အသင့်အား လှီးဖြတ်နေသည်ကို အိပ်မက်တွင် ဧကန်အမှန် မြင်မက်သည်။ သို့ဖြစ်ပေရာ အသင်သည် မည်သို့ ထင်မြင်ယူဆသနည်း" စဉ်းစားပါလေ။

ထို(အခါ) သားတော်က "အို-ခမည်းတော်၊ ခမည်းတော်သည် ပေးတော်မူခြင်းခံရသော အမိန့်တော်ကိုသာ လိုက်နာဆောင်ရွက်ပါ၊ "အင်န်ရှာအလ္လာဟ်" (အလ္လာဟ်အရှင်မြတ် အလိုရှိတော်မူခဲ့ပါလျှင်) ခမည်းတော်သည် ကျွန်တော့်အား ခန္တီတရား ထားရှိသူတစ်ဦးအဖြစ် အမှန်ပင် တွေ့ရှိပါလိမ့်မည်ဟု ပြန်ကြားခဲ့လေ၏။ [၁]

---

**(၁) ကုရ်ဗာနီပြုလုပ်ခြင်း ခံရသော သားတော်ကား မည်သူနည်း။**

"တောင်ရာတ်" ကျမ်းသည် ယဟူဒီများ၏ မထိန်းသိမ်းမှု၊ ကိုယ်ကျိုးရှာမှု၊ ခေတ်၏ပြောင်းလဲမှုများကြောင့် မူရင်းအတိုင်းမရှိတော့ပေ။ ရုပ်ပျက်ဆင်းပျက် ဖြစ်လျက်ရှိ၏။ အထူးသဖြင့် တမန်တော်မုဟမ္မဒ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)နှင့် ပတ်သက်သည့် ဗျာဒိတ်စကားများ၊ စကားရိပ် စကားမြွက်များကိုမူ ယဟူဒီများသည် လုံးဝဖျောက်ဖျက်၍ ထားကြလေပြီ။

သို့တစေလည်း ယခုထက်တိုင် အဆိုပါကျမ်းတွင် အချို့မှန်ကန်သော အချက်အလက်များကို တွေ့ရှိရပေသေးသည်။ "တောင်ရာတ်"ကျမ်းတွင် ကုရ်ဗာနီ ပြုလုပ်ခြင်းခံရသော သားတော်မှာ တမန်တော် အစ်စဟာက်ပင် ဖြစ်သည်ဟူ၍ပါရှိ၏။ သို့ရာတွင် ကျမ်းလာစကားများ၏ ရှေ့နောက်အနေအထား၊ အသုံးအနှုန်းများကို ထောက်ရှုခြင်းအားဖြင့် တမန်တော်အစ်စဟာက်သည် ကုရ်ဗာနီ အပြုမခံခဲ့ရကြောင်း၊ ကုရ်ဗာနီ အပြုခံခဲ့ရသော သားတော်မှာ သားတော်အိစ်မာအီလ်သာ ဖြစ်ကြောင်း၊ သားတော်အစ်စဟာက် လုံးဝမဖြစ်နိုင်ကြောင်း ကောင်းစွာ သိရှိရပေသည်။

တမန်တော်မြတ်လက်ထက်တွင် မရ်ဝဟ်၌ ကုရ်ဗာနီပြုလုပ်ခြင်း မရှိခဲ့ပေ။ မက္ကာမြို့တော်နှင့် သုံးမိုင်ကွာဝေးသော "မီနာ" တွင် ကုရ်ဗာနီ ပြုလုပ်ခဲ့ကြ၏။ သို့ပင်တစေလည်း တမန်တော်မြတ်က ကုရ်ဗာနီ ပြုလုပ်ရာ ဌာနသည် မရ်ဝဟ်ပင် ဖြစ်သည်ဟူ၍ မိန့်ကြားတော်မူခဲ့လေသည်။ ဤသို့ မိန့်ကြားတော်မူခြင်းမှာ တမန်တော် အီဗ်ရာဟီမ်သည် သားတော်အား ဤနေရာ၌ပင် ကုရ်ဗာနီပြုရန် ဆန္ဒထားရှိတော် မူခဲ့ခြင်းကြောင့်ပင်တည်း။

>>

فَلَمَّآ أَسْلَمَا وَتَلَّهُۥ لِلْجَبِينِ ١٠٣

**၁၀၃။** ထို့နောက် ထို(သားအဖ) နှစ်ပါးလုံးသည် အမိန့်တော်ကို လိုက်နာပြီး ထိုအီဗ်ရာဟီမ်သည် (လှီးဖြတ်ရန်) ထိုသားတော်အား မှောက်လျက် လှဲခဲ့လေသောအခါ။

وَنَٰدَيْنَٰهُ أَن يَٰٓإِبْرَٰهِيمُ ١٠٤

**၁၀၄။** ငါအရှင်မြတ်သည် ၎င်းအား (ဤသို့) အသံပြုတော်မူခဲ့၏။ အို-အီဗ်ရာဟီမ်၊

قَدْ صَدَّقْتَ ٱلرُّءْيَآ ۚ إِنَّا كَذَٰلِكَ نَجْزِى ٱلْمُحْسِنِينَ ١٠٥

**၁၀၅။** ဧကန်မလွဲ အသင်သည် အိပ်မက်ကို အမှန်အကန် ဆောင်ရွက်ခဲ့လေပြီ။ ဧကန်အမှန် ငါအရှင်မြတ်သည် သူတော်ကောင်းတို့အား ဤနည်းအတိုင်းပင် အစားပေးလေ့ရှိတော်မူ၏။

إِنَّ هَٰذَا لَهُوَ ٱلْبَلَٰٓؤُا۟ ٱلْمُبِينُ ١٠٦

**၁၀၆။** ဧကန်မလွဲ ဤသည် ထင်ရှားစွာသောစမ်းသပ်မှုတစ်ရပ် အမှန်ပင်ဖြစ်၏။

وَفَدَيْنَٰهُ بِذِبْحٍ عَظِيمٍ ١٠٧

**၁၀၇။** ၎င်းပြင် ငါအရှင်မြတ်သည် ကြီးကျယ်မြင့်မြတ်လှစွာသော သတ်ဖြတ်အပ်သည့်သားကောင်တစ်ကောင်ဖြင့် (အစားထိုး၍) ထိုသားတော်အား ရွေးယူတော်မူခဲ့၏။

وَتَرَكْنَا عَلَيْهِ فِى ٱلْءَاخِرِينَ ١٠٨

**၁၀၈။** ၎င်းပြင် ငါအရှင်မြတ်သည် နောင်လာနောက်သားတို့တွင် ထိုအီဗ်ရာဟီမ်နှင့်ပတ်သက်၍ (၎င်းအားကောင်းမွန်စွာ သတိရခြင်းကို) ရှိစေတော်မူခဲ့၏။

سَلَٰمٌ عَلَىٰٓ إِبْرَٰهِيمَ ١٠٩

**၁၀၉။** အီဗ်ရာဟီမ်၏အပေါ်ဝယ် "စလာမ်" ချမ်းမြေ့သာယာမှုသည် ကျရောက်ပါစေ။

---

➤➤ ဟဂ်ျပြုလုပ်ရာတွင် ကုရ်ဘာနီပြုလုပ်ခြင်းသည် "ရွတ်က်န်" အရေးကြီးသော တာဝန်တစ်ရပ်ဖြစ်၏။ ဤသည်လည်း တမန်တော် အိစ္စမာအီလ်၏ ကုရ်ဘာနီကို အမှတ်ရစေသော ကျင့်စဉ်တစ်ရပ်ပင် ဖြစ်ပေသည်။ ဤသည်ကို ရည်ညွှန်း၍ ကုရ်အာန်ကျမ်းမြတ်တွင် အောက်ပါအတိုင်း လာရှိသည်။

ငါအရှင်မြတ်သည် ထို(သားတော် အိစ္စမာအီလ်)၏အစား ကြီးသော သားကောင် တစ်ကောင်ကို ပေးတော်မူခဲ့၏။ ကုရ်အာန် (၃၇:၁၀၇)။

كَذٰلِكَ نَجْزِى الْمُحْسِنِيْنَ ﴿١١٠﴾

၁၁၀။ ကေန်မလွဲ ငါအရှင်မြတ်သည် သူတော်ကောင်းတို့အား ဤနည်းအတိုင်းပင် အစားပေးလေ့ရှိတော်မူ၏။

اِنَّهٗ مِنْ عِبَادِنَا الْمُؤْمِنِيْنَ ﴿١١١﴾

၁၁၁။ ကေန်စင်စစ် ထိုအီဗ်ရာဟီမ်သည် ငါအရှင်မြတ်၏ "မုအ်မင်န်" သက်ဝင်ယုံကြည်ကြကုန်သော ကျွန်တို့အနက် အပါအဝင်ဖြစ်၏။

وَبَشَّرْنٰهُ بِاِسْحٰقَ نَبِيًّا مِّنَ الصّٰلِحِيْنَ ﴿١١٢﴾

၁၁၂။ ၎င်းပြင် ငါအရှင်မြတ်သည် ထိုအီဗ်ရာဟီမ်အား "အစ်ဟာက်"နှင့်ပတ်သက်၍ နဗီတမန်တော်တစ်ပါး၊ သူတော်ကောင်းတစ်ပါးဖြစ်မည့်အကြောင်း ဝမ်းမြောက်ဖွယ်သတင်း မိန့်ကြားတော်မူခဲ့၏။

وَبٰرَكْنَا عَلَيْهِ وَعَلٰٓى اِسْحٰقَ ؕ وَمِنْ ذُرِّيَّتِهِمَا مُحْسِنٌ وَّظَالِمٌ لِّنَفْسِهٖ مُبِيْنٌ ﴿١١٣﴾

၁၁၃။ ထိုမှတစ်ပါး ငါအရှင်မြတ်သည် ထိုအီဗ်ရာဟီမ်၏အပေါ်၌လည်းကောင်း၊ "အစ်ဟာက်"၏အပေါ်၌လည်းကောင်း၊ ချမ်းသာကြောင်းကို ချပေးသနားတော်မူခဲ့၏။ သို့ရာတွင် ၎င်းတို့နှစ်ဦး၏သားမြေးတို့အနက် သူတော်ကောင်းလည်းရှိ၏။ မိမိကိုယ်ကို မိမိ အထင်အရှား နှိပ်စက်ကလူ ပြုသူလည်းရှိချေသတည်း။

وَلَقَدْ مَنَنَّا عَلٰى مُوْسٰى وَهٰرُوْنَ ﴿١١٤﴾

၁၁၄။ ထိုမှတစ်ပါး မလွဲကေန် ငါအရှင်မြတ်သည် (နဗီတမန်တော်)"မူစာ" ၏အပေါ်၌လည်းကောင်း၊ (နဗီတမန်တော်)"ဟာရူန်" ၏အပေါ်၌လည်းကောင်း၊ ကျေးဇူးပြုတော်မူခဲ့၏။

وَنَجَّيْنٰهُمَا وَقَوْمَهُمَا مِنَ الْكَرْبِ الْعَظِيْمِ ﴿١١٥﴾

၁၁၅။ ထို့ပြင် ငါအရှင်မြတ်သည် ထို"မူစာ"နှင့် "ဟာရူန်" နှစ်ဦးတို့အားလည်းကောင်း၊ ထိုနှစ်ဦးတို့၏အမျိုးသားတို့အား လည်းကောင်း၊ ကြီးကျယ်စွာသော ပူပင်သောကမှ ကယ်တင်တော်မူခဲ့၏။

وَنَصَرْنٰهُمْ فَكَانُوْا هُمُ الْغٰلِبِيْنَ ﴿١١٦﴾

၁၁၆။ ထို့ပြင် ငါအရှင်မြတ်သည် ၎င်းတို့အား ကူညီစောင်မတော်မူခဲ့ရာ ၎င်းတို့သည်ပင်လျှင် အောင်မြင်သူများ ဖြစ်ခဲ့ကြကုန်၏။

وَاٰتَیۡنٰهُمَا الۡكِتٰبَ الۡمُسۡتَبِیۡنَ ﴿۱۱۷﴾

၁၁၇။ ထို့ပြင် ငါအရှင်မြတ်သည် ထိုမူစာနှင့်ဟာရူန် နှစ်ဦးစလုံးကို ရှင်းလင်းပြတ်သားသော(တောင်ရာတ်) ကျမ်းဂန်ကို ချီးမြှင့်ပေးသနားတော်မူခဲ့၏။

وَهَدَیۡنٰهُمَا الصِّرَاطَ الۡمُسۡتَقِیۡمَ ﴿۱۱۸﴾

၁၁၈။ ထိုမှတစ်ပါး ငါအရှင်မြတ်သည် ထိုမူစာနှင့် ဟာရူန်နှစ်ဦးစလုံးအား ဖြောင့်မတ်မှန်ကန်သော တရားလမ်းကို ညွှန်ကြားပြသတော်မူခဲ့၏။

وَتَرَكۡنَا عَلَیۡهِمَا فِی الۡاٰخِرِیۡنَ ﴿۱۱۹﴾

၁၁၉။ ၎င်းပြင် ငါအရှင်မြတ်သည် နောက်လာနောက် သားတို့တွင် ၎င်းတို့နှစ်ဦးစလုံးနှင့်ပတ်သက်၍ (၎င်းတို့ နှစ်ဦးစလုံးအား ကောင်းမွန်စွာ သတိရခြင်းကို) ရှိစေ တော်မူခဲ့၏။

سَلٰمٌ عَلٰی مُوۡسٰی وَهٰرُوۡنَ ﴿۱۲۰﴾

၁၂၀။ "စလာမ်" ငြိမ်းချမ်းသာယာမှုသည် မူစာ၏ အပေါ်၌လည်းကောင်း၊ ဟာရူန်၏အပေါ်၌လည်း ကောင်း၊ ကျရောက်ပါစေ။

اِنَّا كَذٰلِكَ نَجۡزِی الۡمُحۡسِنِیۡنَ ﴿۱۲۱﴾

၁၂၁။ ဧကန်မလွဲ ငါအရှင်မြတ်သည် ဤနည်းအတိုင်း ပင် သူတော်ကောင်းတို့အား အစားပေးလေ့ရှိတော်မူ၏။

اِنَّهُمَا مِنۡ عِبَادِنَا الۡمُؤۡمِنِیۡنَ ﴿۱۲۲﴾

၁၂၂။ ဧကန်စင်စစ် ထိုနှစ်ဦးစလုံးသည် ငါအရှင်မြတ် ၏ "မုအ်မင်န်" သက်ဝင်ယုံကြည်ကြကုန်သော ကျွန်တို့တွင် အပါအဝင် ဖြစ်ကြကုန်သတည်း။

وَاِنَّ اِلۡیَاسَ لَمِنَ الۡمُرۡسَلِیۡنَ ﴿۱۲۳﴾

၁၂၃။ ထိုမှတစ်ပါး ဧကန်စင်စစ် "အီလ်ယာစ်" သည် "ရစူလ်" တမန်တော်တို့တွင် အမှန်ပင် တစ်ဦး အပါ အဝင်ဖြစ်၏။

اِذۡ قَالَ لِقَوۡمِهٖۤ اَلَا تَتَّقُوۡنَ ﴿۱۲۴﴾

၁၂၄။ တစ်ရံရောအခါဝယ် "အီလ်ယာစ်"သည် မိမိ အမျိုးသားတို့အား (ဤသို့) ပြောကြားခဲ့လေ၏။ (အချင်းတို့၊) အသင်တို့သည် (အလ္လာဟ်အရှင်မြတ် အား) မကြောက်ရွံ့ကြလေသလော။

اَتَدۡعُوۡنَ بَعۡلًا وَّتَذَرُوۡنَ اَحۡسَنَ الۡخٰلِقِيۡنَ ۙ﴿۱۲۵﴾

၁၂၅။ အသင်တို့သည် အကောင်းဆုံး ဖန်ဆင်းတော်မူသော အရှင်မြတ်အား စွန့်ထားကြ၍ "ဗအ်လ်" (ဟုမည်တွင်သော ဆင်းတု)ကို ဟစ်ခေါ်(တသ ကိုးကွယ်ဆည်းကပ်)ကြလေသလော။

اللّٰهَ رَبَّكُمۡ وَرَبَّ اٰبَآئِكُمُ الۡاَوَّلِيۡنَ ﴿۱۲۶﴾

၁၂၆။ အသင်တို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်၊ ထိုနည်းတူစွာ အသင်တို့၏ ရှေးဟောင်းအဘ၊ ဘိုး၊ ဘေးများအား ဖန်ဆင်းမွေးမြူတော်မူသောအရှင် ဖြစ်တော်မူသော အလ္လာဟ်အရှင်မြတ်အား (စွန့်ထားကြ၍)။

فَكَذَّبُوۡهُ فَاِنَّهُمۡ لَمُحۡضَرُوۡنَ ۙ﴿۱۲۷﴾

၁၂၇။ သို့တစေလည်း ၎င်းတို့သည် ထို(နဗီတမန်တော်) အီလ်ယာစ်အား မုသာဝါဒီဟူ၍ စွပ်စွဲငြင်းပယ်ခဲ့ကြပေရာ၊ ဧကန်စင်စစ် ၎င်းတို့သည် (ငါအရှင်မြတ်၏) ရှေ့တော်မှောက်သို့ သွင်းခြင်းခံကြရမည့်သူများ အမှန်ပင် ဖြစ်ကြကုန်၏။

اِلَّا عِبَادَ اللّٰهِ الۡمُخۡلَصِيۡنَ ﴿۱۲۸﴾

၁၂၈။ သို့ရာတွင် ရွေးချယ်ခြင်း ခံခဲ့ကြရလေသော အလ္လာဟ်အရှင်မြတ်၏ ကျွန်တို့မှာမူကား (ကောင်းမြတ်သော အကျိုးကျေးဇူးကို ခံစားကြရပေမည်)။

وَتَرَكۡنَا عَلَيۡهِ فِى الۡاٰخِرِيۡنَ ۙ﴿۱۲۹﴾

၁၂၉။ စင်စစ် ငါအရှင်မြတ်သည် ထိုအီလ်ယာစ်နှင့် ပတ်သက်၍ နောင်လာနောက်သားတို့တွင် (၎င်းအား ကောင်းမွန်စွာ သတိရခြင်းကို) ရှိစေတော်မူခဲ့၏။

سَلٰمٌ عَلٰٓى اِلۡ يَاسِيۡنَ ﴿۱۳۰﴾

၁၃၀။ "စလာမ်" ငြိမ်းချမ်း သာယာမှုသည် "အီလ်ယာစီန်" ၏အပေါ်ဝယ် ကျရောက်ပါစေ။ ①

① **တမန်တော်အီလ်ယာစ်၊**

အချို့ပညာရှင်များ၏ ယူဆချက်အရ တမန်တော်အီလ်ယာစ်သည် တမန်တော်ဟာရွန်၏ မျိုးနွယ်ဆက်မှ ဖြစ်သည်။ အလ္လာဟ်အရှင်မြတ်သည် တမန်တော်အီလ်ယာစ်အား ဆီရီးယားပြည်ရှိ ဗအ်လဗက္ကမြို့သို့ စေလွှတ်တော်မူခဲ့သည်။ ယင်းမြို့သားများသည် "ဗအ်လ" မည်တွင်သော ဆင်းတုကို ကိုးကွယ်နေခဲ့ကြသည်။ ▷▷

إِنَّا كَذَٰلِكَ نَجْزِي الْمُحْسِنِينَ ١٣١

၁၃၁။ ဧကန်မလွဲ ငါအရှင်မြတ်သည် သူတော်ကောင်းတို့အား ဤနည်းအတိုင်းပင် အစားပေးလေ့ရှိတော်မူ၏။

إِنَّهُ مِنْ عِبَادِنَا الْمُؤْمِنِينَ ١٣٢

၁၃၂။ စင်စစ်ဧကန် ထို"အီလ်ယာစီန်"သည် ငါအရှင်မြတ်၏ သက်ဝင်ယုံကြည်ကုန်သောကျွန်တို့တွင် တစ်ဦး အပါအဝင် ဖြစ်ချေသတည်း။

وَإِنَّ لُوطًا لَمِنَ الْمُرْسَلِينَ ١٣٣

၁၃၃။ ထို့မှတစ်ပါး ဧကန်မလွဲ"လူတ်"သည်လည်း "ရစူလ်" တမန်တော်တို့တွင် အပါအဝင်ဖြစ်လေ၏။

إِذْ نَجَّيْنَاهُ وَأَهْلَهُ أَجْمَعِينَ ١٣٤

၁၃၄။ အကြင်အခါဝယ် ငါအရှင်မြတ်သည် ထို"လူတ်"အားလည်းကောင်း၊ ထို"လူတ်"၏ အိမ်သူအိမ်သား အားလုံးတို့ကိုလည်းကောင်း၊ ကယ်တင်တော်မူခဲ့၏။

إِلَّا عَجُوزًا فِي الْغَابِرِينَ ١٣٥

၁၃၅။ သို့ရာတွင် အမယ်အိုတစ်ဦးမှာ ကျန်ရစ်ခဲ့သူတို့တွင် ပါဝင်ခဲ့၏။

ثُمَّ دَمَّرْنَا الْآخَرِينَ ١٣٦

၁၃၆။ ထို့နောက် ငါအရှင်မြတ်သည် အခြားသောသူတို့အား ဖျက်ဆီးတော်မူခဲ့၏။

---

➢➢ တမန်တော် အီလ်ယာစ်သည် ဗအ်လဗက္ကမြို့သားများကို အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ရှိသေခန့်ညားကြရမည့်အကြောင်း၊ ဆင်းတုကိုးကွယ်မှုကို ရှောင်ကြဉ်ကြရမည့်အကြောင်း ကျိုးကြောင်းပြ၍ တရားဓမ္မဟောသွန်ပြတော်မူခဲ့သည်။ အဆိုပါ မြို့သူမြို့သားများအနက် အများစုက မနာခံခဲ့ကြပေ။ အချို့က နာခံခဲ့ကြသည်။ မနာခံသူများသည် ငရဲဘုံသို့ လားကြရမည်။ နာခံသူများသည် ဂျန္နတ်သို့ လားကြရမည်ဖြစ်သည်။

**မှတ်ချက်။**

"စီနာ" တောင်ကို "စီနီန်"တောင်ဟု ခေါ်ဆိုသကဲ့သို့ တမန်တော် အီလ်ယာစ်အား "အီလ်ယာစီန်"ဟူ၍ ခေါ်ဝေါ်သမုတ်ကြသည်။

အချို့၏ ယူဆချက်အရ "အီလ်ယာစီန်" သည် တမန်တော် အီလ်ယာစ်၏ နောက်လိုက်တပည့်သားများကို ဆိုလိုသည်။

အချို့က ယင်းပုဒ်ကို (آل ياسين) "အာလိယာစီန်" ဟူ၍ ရွတ်ဖတ်ကြသည်။ ဤရွတ်ဖတ်နည်းအရဆိုသော် "အာလိယာစီန်"၏ အဓိပ္ပာယ်မှာ ယာစီန်၏ သားသမီးများဟူ၍ ဖြစ်သွားပေမည်။ "ယာစီန်"သည် ၎င်းတို့၏ဖခင်၏အမည်၊ တစ်နည်း တမန်တော် အီလ်ယာစ်၏အမည် ဖြစ်သွားပေမည်။

وَإِنَّكُمْ لَتَمُرُّونَ عَلَيْهِم مُّصْبِحِينَ ﴿١٣٧﴾

၁၃၇။ စင်စစ်ဆိုသော် မှချဧကန် အသင်တို့သည် နေ့အခါ၌ ၎င်းတို့၏(ပျက်စီးနေသောမြို့ရွာ)အနီးမှ ဖြတ်သန်း သွားလာလျက်ပင် ရှိကြကုန်၏။

وَبِالَّيْلِ ۗ أَفَلَا تَعْقِلُونَ ﴿١٣٨﴾

၁၃၈။ ထိုနည်းတူစွာ (အသင်တို့သည်) ညဥ့်အခါ၌လည်း (ဖြတ်သန်းသွားလာလျက် ရှိကြပေသည်၊) သို့ပါလျက် အသင်တို့သည် (မစဉ်းစားမဆင်ခြင်) မသိ နားမလည်ကြလေသလော။

وَإِنَّ يُونُسَ لَمِنَ الْمُرْسَلِينَ ﴿١٣٩﴾

၁၃၉။ ထိုမှတစ်ပါး ဧကန်အမှန် "ယူနုတ်စ်"သည်လည်း "ရစူလ်" တမန်တော်တစ်ဦးဖြစ်ခဲ့၏။

إِذْ أَبَقَ إِلَى الْفُلْكِ الْمَشْحُونِ ﴿١٤٠﴾

၁၄၀။ အခါတစ်ပါး၌ ထို"ယူနုတ်စ်"သည် ကုန်စည်အပြည့်တင်ထားသော သင်္ဘော၏အနီးသို့ ပြေး၍ သွားခဲ့လေ၏။

فَسَاهَمَ فَكَانَ مِنَ الْمُدْحَضِينَ ﴿١٤١﴾

၁၄၁။ ထို့နောက် ထို"ယူနုတ်စ်"သည် (သင်္ဘောသားများ) မဲစာရေးတံချရာတွင် ပါဝင်မဲချစေခဲ့ရာ၊ ၎င်းမှာ အရေးရှုံးနိမ့်သူ ဖြစ်ခဲ့ရလေ၏။

فَالْتَقَمَهُ الْحُوتُ وَهُوَ مُلِيمٌ ﴿١٤٢﴾

၁၄၂။ ထို့နောက် ထိုယူနုတ်စ်သည် မိမိကိုယ်ကို မိမိအပြစ်တင်လျက်ရှိနေစဉ် ငါးသည် ၎င်းအား မျိုခဲ့လေ၏။

فَلَوْلَا أَنَّهُ كَانَ مِنَ الْمُسَبِّحِينَ ﴿١٤٣﴾

၁၄၃။ စင်စစ်သော်ကား အကယ်၍သာ ထို"ယူနုတ်စ်" သည် (ငါအရှင်မြတ်)စင်ကြယ်သန့်ရှင်းတော်မူကြောင်း မြွက်ဆိုသူ မဖြစ်ခဲ့မူ။

لَلَبِثَ فِي بَطْنِهِ إِلَىٰ يَوْمِ يُبْعَثُونَ ﴿١٤٤﴾

၁၄၄။ အမှန်ပင် ထို"ယူနုတ်စ်" သည် "ကိယာမတ်" ရှင်ပြန်ထမည့်နေ့တိုင်အောင် ထိုငါး၏ ဝမ်းဗိုက်ထဲ၌သာ နေခဲ့ရပေမည်။

فَنَبَذْنٰهُ بِالْعَرَآءِ وَهُوَ سَقِيْمٌ ﴿١٤٥﴾

၁၄၅။ ထို့နောက် ငါအရှင်မြတ်သည် ထို"ယူနွတ်စ်" အား လွင်တီးပြင်၌ချတော်မူခဲ့ရာ ၎င်းမှာ နွမ်းရိလျက် ရှိခဲ့၏။

وَاَنْۢبَتْنَا عَلَيْهِ شَجَرَةً مِّنْ يَّقْطِيْنٍ ﴿١٤٦﴾

၁၄၆။ ထို့ပြင် ငါအရှင်မြတ်သည် ၎င်း၏အပေါ်၌ နွယ်တက်သော အပင်တစ်ပင်ကို ပေါက်ရောက်စေတော်မူခဲ့၏။

وَاَرْسَلْنٰهُ اِلٰى مِائَةِ اَلْفٍ اَوْ يَزِيْدُوْنَ ﴿١٤٧﴾

၁၄၇။ ထို့နောက် ငါအရှင်မြတ်သည် ၎င်းအား (လူဦးရေ)တစ်သိန်း သို့မဟုတ် တစ်သိန်းကျော်ရှိ အမျိုးသားတို့ထံ (ရစူလ်တမန်တော်အဖြစ်) စေလွှတ်တော်မူခဲ့၏။

فَاٰمَنُوْا فَمَتَّعْنٰهُمْ اِلٰى حِيْنٍ ﴿١٤٨﴾

၁၄၈။ ထိုအခါ ၎င်းအမျိုးသားတို့သည် "အီမာန်" သက်ဝင်ယုံကြည်ခဲ့ကြပေရာ ငါအရှင်မြတ်သည် ၎င်းတို့အား သတ်မှတ်ပြီးဖြစ်သော အချိန်ကာလတိုင်အောင် အကျိုးကျေးဇူးခံစားခွင့်ပေးသနားတော်မူခဲ့ပေသတည်း။

فَاسْتَفْتِهِمْ اَلِرَبِّكَ الْبَنَاتُ وَلَهُمُ الْبَنُوْنَ ﴿١٤٩﴾

၁၄၉။ ယခုသော် အသင်သည် ၎င်းတို့အား မေးမြန်းပါလေ။ အသင့်အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၌ သမီးမိန်းကလေးများရှိကြ၍၊ ၎င်းတို့၌မူကား သားယောကျာ်းကလေးများ ရှိကြလေသလော။

اَمْ خَلَقْنَا الْمَلٰٓئِكَةَ اِنَاثًا وَّهُمْ شٰهِدُوْنَ ﴿١٥٠﴾

၁၅၀။ သို့တည်းမဟုတ် ငါအရှင်မြတ်သည် "မလာအိကဟ်" ကောင်းကင်တမန်တို့အား မိန်းမများအဖြစ် ဖန်ဆင်းတော်မူခဲ့သည်ကိုလည်းကောင်း၊ သို့ ကြည့်ရှုလျက် ရှိခဲ့ကြလေသလော။ ၁

---

① **အလ္လာဟ်အရှင်မြတ်၌ မည်သည့်သံယောဇဉ်မျှ မရှိ၊**

အရဗ်ကာဖိရ်များက ကောင်းကင်တမန်များသည် အလ္လာဟ်အရှင်မြတ်၏ သမီးများ ဖြစ်ကြသည်ဟု ဆိုခဲ့ကြ၏။ တစ်ဖန် ၎င်းတို့အား အသင်တို့ ပြောဆိုကြသည့်အတိုင်း ကောင်းကင်တမန်များသည် အလ္လာဟ်အရှင်မြတ်၏ သမီးများဖြစ်ကြလျှင် ၎င်းတို့၏မိခင်များကား မည်သူများပါနည်းဟု မေးလျှင် ၎င်းတို့က ➤➤

أَلَآ إِنَّهُم مِّنْ إِفْكِهِمْ لَيَقُولُونَ ١٥١

**၁၅၁။** ကောင်းစွာ မှတ်ယူကြလေကုန်။ ကေန်အမှန် ၎င်းတို့သည် မိမိတို့၏ လီဆယ်မှုဖြင့်သာ ပြောဆိုနေကြသည်။

وَلَدَ ٱللَّهُ وَإِنَّهُمْ لَكَٰذِبُونَ ١٥٢

**၁၅၂။** "အလ္လာဟ်အရှင်မြတ်သည် (သားသမီး) မွေးဖွားတော်မူသည်" ဟု။ သို့ရာတွင် စင်စစ်ကေန် ၎င်းတို့သည် မုသာဝါဒီများပင် ဖြစ်ကြကုန်၏။

أَصْطَفَى ٱلْبَنَاتِ عَلَى ٱلْبَنِينَ ١٥٣

**၁၅၃။** အလ္လာဟ်အရှင်မြတ်သည် သမီးမိန်းကလေးများအား သားယောကျ်ားကလေးများထက် ဦးစားပေးတော်မူခဲ့သလော။

مَا لَكُمْ كَيْفَ تَحْكُمُونَ ١٥٤

**၁၅၄။** အသင်တို့၌ မည်သို့သော အကြောင်းပြချက် ရှိသနည်း။ အသင်တို့သည် မည်သို့ အဆုံးအဖြတ်ပေးကြသနည်း။

أَفَلَا تَذَكَّرُونَ ١٥٥

**၁၅၅။** အသင်တို့သည် ဆင်ခြင်သုံးသပ်ခြင်း မပြုကြလေသလော။

أَمْ لَكُمْ سُلْطَٰنٌ مُّبِينٌ ١٥٦

**၁၅၆။** သို့တည်းမဟုတ် အသင်တို့၌ ထင်ရှားစွာသော သက်သေ အထောက်အထား တစ်စုံတစ်ရာ ရှိလေသလော။

فَأْتُوا۟ بِكِتَٰبِكُمْ إِن كُنتُمْ صَٰدِقِينَ ١٥٧

**၁၅၇။** သို့ရှိခဲ့လျှင် အကယ်၍ အသင်တို့သည် သစ္စာဝါဒီများ ဖြစ်ကြပါမူ မိမိတို့၏ကျမ်းဂန်ကို ယူလာ(တင်ပြ)ကြလေကုန်။

---

➤➤ ကြီးမားသော ဂျင်န်များ၏သမီးများ ဖြစ်ကြသည်ဟု ဖြေဆိုခဲ့ကြ၏။ ဤသို့ဖြင့် ကာဖိရ်များသည် (မပြောအပ် မဆိုအပ်) အလ္လာဟ်အရှင်မြတ်နှင့် ကောင်းကင်တမန်များ၊ ဂျင်န်များစပ်ကြားတွင် ဆွေမျိုးတော်စပ်ပေးထားခဲ့ကြ၏။ အမှန်မှာ တန်ခိုးတော်အနန္တ၊ ဉာဏ်တော်အနန္တနှင့် ပြည့်စုံတော်မူသော တစ်ဆူတည်းဖြစ်တော်မူသော၊ ပြိုင်ဘက်၊ ယှဉ်ဘက် ကင်းတော်မူသော၊ ကြောင့်ကြမှုကင်းသော၊ သံယောဇဉ်ကင်းတော်မူသော အလ္လာဟ်အရှင်မြတ်၌ သားသမီး သံယောဇဉ်၊ ဆွေမျိုးသံယောဇဉ် အသို့လျှင်ရှိနိုင်အံ့နည်း။

وَجَعَلُوا بَيْنَهُ وَبَيْنَ الْجِنَّةِ نَسَبًا ۚ وَلَقَدْ عَلِمَتِ الْجِنَّةُ إِنَّهُمْ لَمُحْضَرُونَ ﴿١٥٨﴾

**၁၅၈။** ထိုမှတစ်ပါး ၎င်းတို့သည် (မိမိတို့၏ စိတ်ကူးဖြင့်) ထိုအရှင်မြတ်နှင့် ဂျင်န်(န်)သတ္တဝါတို့၏ အကြားဝယ် ဆွေမျိုးတော်စပ်မှုကို ဖန်တီးခဲ့ကြကုန်၏။ အမှန်စင်စစ်သော်ကား ဂျင်န်(န်)သတ္တဝါတို့ ကိုယ်တိုင် မိမိတို့မှာ (ပြစ်ဒဏ်၌) အမှန်ပင် အဆင်သင့် ရောက်ရှိစေခြင်း ခံကြရမည့်သူများ ဖြစ်ကြသည်ကို ကောင်းစွာ သိရှိပြီး ဖြစ်ကြကုန်၏။

سُبْحَانَ اللَّهِ عَمَّا يَصِفُونَ ﴿١٥٩﴾

**၁၅၉။** အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့ ကြံဖန် ပြောဆိုကြသည်တို့မှ လုံးဝ ကင်းရှင်းစင်ကြယ်တော်မူ၏။

إِلَّا عِبَادَ اللَّهِ الْمُخْلَصِينَ ﴿١٦٠﴾

**၁၆၀။** သို့ရာတွင် ရွေးချယ်ပြီးဖြစ်သော အလ္လာဟ်အရှင်မြတ်၏ ကျွန်များမှာမူကား (ပြစ်ဒဏ်မှ ကင်းလွတ်ကြကုန်အံ့သတည်း)။

فَإِنَّكُمْ وَمَا تَعْبُدُونَ ﴿١٦١﴾

**၁၆၁။** သို့ဖြစ်ရာ အသင်တို့သည်လည်းကောင်း၊ အသင်တို့၏ ဆည်းကပ် ကိုးကွယ်ရာတို့သည်လည်းကောင်း။

مَا أَنْتُمْ عَلَيْهِ بِفَاتِنِينَ ﴿١٦٢﴾

**၁၆၂။** အသင်တို့သည် (အားလုံးစုရုံးလျက်ပင်) ထိုအရှင်မြတ်ဘက်မှ သွေးဆောင်နိုင်ကြသူများ မဟုတ်ကြပေ။ (တစ်နည်း) ထိုအသင်တို့၏ ကိုးကွယ်ရာဘက်သို့ သွေးဆောင်နိုင်ကြသူများမဟုတ်ကြပေ။ [၁]

---

(၁) **ဂျင်န်နှင့် ကောင်းကင်တမန်များသည် ကောင်းကျိုးဆိုးကျိုး မပေးနိုင်၊**

ကာဖိရ်များက ဂျင်န်များသည် မကောင်းကျိုးပေးနိုင်ကြသည်။ လွဲမှားစေနိုင်ကြသည်။ ကောင်းကင်တမန်များသည် ကောင်းကျိုးပေးနိုင်ကြသည်။ အမှန်တရားကို ညွှန်ပြနိုင်ကြသည်ဟု ထင်မှတ်ခဲ့ကြသည်။ သို့ထင်မှတ်ခဲ့ကြသည့်အတွက်ကြောင့်ပင် အလ္လာဟ်အရှင်မြတ်နှင့် ဂျင်န်များ ကောင်းကင်တမန်များ စပ်ကြားတွင် ဆွေမျိုးစပ်ပေးခဲ့ ကြပြန်တူသည်။ အမှန်မှာ ဂျင်န်များနှင့် ကောင်းကင်တမန်များသည်လည်း အခြား အဖန်ဆင်းခံများကဲ့သို့ အဖန်ဆင်းခံများသာ ဖြစ်ကြပေသည်။ ၎င်းတို့၌ ကောင်းကျိုးဆိုးကျိုးပေးရန် အသို့မျှစွမ်းရည်သတ္တိမရှိ။ အလ္လာဟ်အရှင်မြတ် အလိုတော်မရှိပါက ၎င်းတို့အားလုံး စုပေါင်း၍ပင် တစ်ဦးတစ်ယောက်ကိုမျှ လွဲမှား တိမ်းပါးစေနိုင်ကြသည် မရှိ။ ဤသည့်အချက်ကိုပင် ဤအာယတ်တော်တွင် ရည်ညွှန်း မိန့်ဆိုထားတော်မူသည်။

إِلَّا مَنْ هُوَ صَالِ الْجَحِيمِ ﴿١٦٣﴾

၁၆၃။ "ဂျဟန္နမ်" ငရဲဘုံ၌ ကျရောက်အံ့သောသူမှ တစ်ပါး အခြားမည်သူတစ်ဦးတစ်ယောက်ကိုမျှပင်။

وَمَا مِنَّا إِلَّا لَهُ مَقَامٌ مَّعْلُومٌ ﴿١٦٤﴾

၁၆၄။ (ကောင်းကင်တမန်များ)က စင်စစ်သော်ကား ကျွန်ုပ်တို့အနက် အသီးသီးအဖို့ အဆင့်အတန်း တစ်ခုစီ သတ်မှတ်ပြီး ဖြစ်သည်။

وَإِنَّا لَنَحْنُ الصَّافُّونَ ﴿١٦٥﴾

၁၆၅။ ၎င်းပြင် ဧကန်မလွဲ ကျွန်ုပ်တို့သည် စီတန်း၍ နေကြသူများပင် ဖြစ်ကြကုန်သည်။

وَإِنَّا لَنَحْنُ الْمُسَبِّحُونَ ﴿١٦٦﴾

၁၆၆။ ထိုမှတစ်ပါး ဧကန်စင်စစ် ကျွန်ုပ်တို့သည် (အလ္လာဟ်အရှင်မြတ်) စင်ကြယ် သန့်ရှင်းတော်မူကြောင်း မြွက်ဆိုသူများပင် ဖြစ်ကြကုန်သည်။ (ဟု ဆိုကြသည်)။

وَإِن كَانُوا لَيَقُولُونَ ﴿١٦٧﴾

၁၆၇။ စင်စစ်သော်ကား ဧကန်မလွဲ ထို(မုရှ်ရစ်က်)တို့သည် (ဤသို့)ပြောဆိုလျက် ရှိခဲ့ကြကုန်၏။

لَوْ أَنَّ عِندَنَا ذِكْرًا مِّنَ الْأَوَّلِينَ ﴿١٦٨﴾

၁၆၈။ ဧကန်အမှန် အကယ်၍သာ ကျွန်ုပ်တို့ထံ၌ ရှေးသူဟောင်းတို့၏ဆုံးမဩဝါဒ တစ်စုံတစ်ရာရှိခဲ့မူ။

لَكُنَّا عِبَادَ اللَّهِ الْمُخْلَصِينَ ﴿١٦٩﴾

၁၆၉။ အမှန်ပင် ကျွန်ုပ်တို့သည် ရွေးချယ်ခြင်း ခံကြရသော အလ္လာဟ်အရှင်မြတ်၏ကျွန်များပင် ဖြစ်ကြမည်။

فَكَفَرُوا بِهِ فَسَوْفَ يَعْلَمُونَ ﴿١٧٠﴾

၁၇၀။ သို့ပါလျက် ၎င်းတို့သည် ယင်းဆုံးမဩဝါဒကို ငြင်းပယ်ခဲ့ကြကုန်၏။ သို့ဖြစ်ပေရာ ၎င်းတို့သည် မကြာမြင့်မီပင် သိရှိကြရမည်။ [1]

---

① **ကာဖိရ်တို့၏ စကားသည် ရှေ့နောက်မညီ၊**

အရဗ် ကာဖိရ်များသည် အတိတ်ခေတ် တမန်တော်များ၏ အမည်များကို ကြားသိနေခဲ့ကြရသော်လည်း ယင်းတမန်တော်များ၏ ဒေသနာတော်များကိုမူ အတိအကျ မသိခဲ့ကြရပေ။ ထိုသည့်အခြေအနေတွင် ၎င်းတို့က အကယ်၍သာငါတို့သည် အတိတ်ခေတ် ရှေးသူဟောင်းများ ရရှိခဲ့ကြသော တရားဒေသနာတော်များကို အတိအကျ သိရှိကြရပါက၊ ကျမ်းဂန်တစ်စောင်စောင် ရရှိပါက ငါတို့သည် ကောင်းမွန်စွာလိုက်နာကျင့်သုံးပြီး အလ္လာဟ် အရှင်မြတ်၏ ရွေးချယ်မြှောက်စားတော်မူခြင်း ခံကြရသော သူတော်စင်များတွင် မုချအပါအဝင် ဖြစ်ကြမည် ➤➤

وَلَقَدْ سَبَقَتْ كَلِمَتُنَا لِعِبَادِنَا الْمُرْسَلِينَ ﴿١٧١﴾

၁၇၁။ အမှန်သော်ကား ငါအရှင်မြတ်၏ ရစူလ် တမန်တော်များဖြစ်ကြသော ကျွန်တို့နှင့်ပတ်သက်၍ ငါအရှင်မြတ်၏ အမိန့် ဗျာဒိတ်တော်သည် ရှေးဦး မဆွကပင် သတ်မှတ်ပြီးဖြစ်ခဲ့ပြီ။

إِنَّهُمْ لَهُمُ الْمَنصُورُونَ ﴿١٧٢﴾

၁၇၂။ ဧကန်အမှန် ၎င်းတို့သည်သာလျှင် ကူညီ စောင်မခြင်း ခံကြရမည့်သူများ ဖြစ်ကြောင်း။

وَإِنَّ جُندَنَا لَهُمُ الْغَالِبُونَ ﴿١٧٣﴾

၁၇၃။ စင်စစ်သော်ကား ဧကန်အမှန် ငါအရှင်မြတ်၏ တပ်မတော်သည်သာလျှင် လွှမ်းမိုးမည်ပင်။ ၁

فَتَوَلَّ عَنْهُمْ حَتَّىٰ حِينٍ ﴿١٧٤﴾

၁၇၄။ သို့ဖြစ်ပေရာ (အို-နဗီတမန်တော်) အသင်သည် ၎င်းတို့အား အချိန်ကာလ အနည်းငယ်တိုင်အောင် လျစ်လျူရှု၍ နေပါလေ။

وَأَبْصِرْهُمْ فَسَوْفَ يُبْصِرُونَ ﴿١٧٥﴾

၁၇၅။ ထိုမှတစ်ပါး အသင်သည် ၎င်းတို့အား ကြည့် နေပါလေ။ ထို့နောက် မကြာမြင့်မီပင် ၎င်းတို့သည် လည်း မြင်ကြရပေမည်။

أَفَبِعَذَابِنَا يَسْتَعْجِلُونَ ﴿١٧٦﴾

၁၇၆။ ၎င်းတို့သည် ငါအရှင်မြတ်၏ ပြစ်ဒဏ်ကို အလျင်စလို တောင်းဆိုကြလေသလော။ ၂

---

➤➤ ဟူ၍ပင် အသံကောင်းဟစ်နေခဲ့ကြပေသည်။ သို့ပင်တစေ၊ ၎င်းတို့တွင် တမန်တော်အပေါင်းတို့၏ အချုပ်ဖြစ်တော်မူသော တမန်တော်မြတ် ပွင့်လာတော်မူသည့်အခါ မိမိတို့ အသံကောင်းဟစ်ခဲ့ကြသည်ကိုပင် အမေ့ကြီးမေ့ပြီး တမန်တော်မြတ်အား သွေဖည် ကျောခိုင်း သွားခဲ့ကြလေသည်။ သို့ဖြစ်ရာ ၎င်းတို့သည် မကြာမီအတွင်း အကြောင်းသိကြရမည်။

① <u>အလ္လာဟ်အရှင်မြတ်၏ တပ်မတော်သည် အောင်မြင်လွှမ်းမိုးသည်သာ၊</u>

တမန်တော်များသည် အလ္လာဟ်အရှင်မြတ်၏ တပ်မတော်သားများ ဖြစ်ခဲ့ကြပေသည်။ ထိုအရှင်မြတ်သည် မိမိ၏တပ်မတော်အား ကူညီရန် ရှေးဦးမဆွကပင် ဆုံးဖြတ်ထားတော် မူပြီးဖြစ်သည်။ ထို့အတွက် တမန်တော်များသည် မိမိတို့၏ ဘဝသက်တမ်းများတွင် အခြေအနေအမျိုးမျိုးနှင့် ရင်ဆိုင်ခဲ့ကြရသော်လည်း နောက်ဆုံး၌ အလ္လာဟ်အရှင်မြတ်၏ အကူအညီဖြင့် အဘက်ဘက်တွင် လွှမ်းမိုး အောင်မြင်ခဲ့ကြသည်သာတည်း။

ကြည့်-ကုရ်အာန် (၁၀း၁၀၃။ ၄၀း၅၁။ ၅၈း၂၁။)

فَإِذَا نَزَلَ بِسَاحَتِهِمْ فَسَاءَ صَبَاحُ الْمُنْذَرِينَ ﴿١٧٧﴾

၁၇၇။ စင်စစ်သော်ကား ယင်းပြစ်ဒဏ်သည် ၎င်းတို့၏အိမ်ဝင်းထဲ၌ ကျရောက်လာသောအခါ သတိပေးနှိုးဆော်ခြင်းခံကြရသောသူများ၏ နံနက်အချိန်ပင် အချိန်မှာ အလွန်ဆိုးရွားလှသော နံနက်အချိန်ပင် ဖြစ်ချိမ့်မည်။

وَتَوَلَّ عَنْهُمْ حَتَّىٰ حِينٍ ﴿١٧٨﴾

၁၇၈။ (အို-နဗီတမန်တော်၊) အသင်သည် ၎င်းတို့အား အချိန်ကာလ အနည်းငယ်တိုင်အောင် လျစ်လျူ၍ နေပါလေ။

وَأَبْصِرْ فَسَوْفَ يُبْصِرُونَ ﴿١٧٩﴾

၁၇၉။ ထို့ပြင် အသင်သည် ကြည့်၍သာနေပါလေ။ ထို့နောက် ၎င်းတို့သည်လည်း မကြာမြင့်မီပင် မြင်ကြရကုန်အံ့သတည်း။

سُبْحَانَ رَبِّكَ رَبِّ الْعِزَّةِ عَمَّا يَصِفُونَ ﴿١٨٠﴾

၁၈၀။ အသင့်အား ဖန်ဆင်း မွေးမြူတော်မူသော၊ အနန္တဂုဏ်ထူးရှင် ဖြစ်တော်မူသော အရှင်မြတ်သည် ၎င်းတို့ ကြံဖန်ပြောဆိုကြသည်တို့မှ လုံးဝ ကင်းရှင်းစင်ကြယ်တော်မူပါဘိတကား။

وَسَلَامٌ عَلَى الْمُرْسَلِينَ ﴿١٨١﴾

၁၈၁။ ၎င်းပြင် ချမ်းမြေ့သာယာမှုသည် "ရစူလ်" တမန်တော်တို့အပေါ်ဝယ် ကျရောက်ပါစေသော်။

وَالْحَمْدُ لِلَّهِ رَبِّ الْعَالَمِينَ ﴿١٨٢﴾

၁၈၂။ ထိုမှတစ်ပါး ချီးမွမ်းထောပနာ အလုံးစုံတို့သည် စကြာဝဠာခပ်သိမ်းတို့ကို ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်နှင့်သာ အပ်စပ်ပေသတည်း။ [၁]

---

(၂) ကာဖိရ်များသည် ပြက်ရယ်သည့်သဘောဖြင့် အလ္လာဟ်အရှင်မြတ်၏ ပြစ်ဒဏ်ကို အလျင်စလို လိုလားနေခဲ့ကြသည်။ သို့လိုလားနေခဲ့ကြသည့် အလျောက် မက္ကာမြို့တော်ကို မုစ်လင်မ်များ ပြန်လည်အောင်နိုင်ခဲ့ကြသည့်နေ့တွင် ကာဖိရ်များသည် မရှုမလှ အရေးရှုံးနိမ့်သွားခဲ့ကြရပြီ မဟုတ်လော။ ဤကား ဤပစ္စက္ခဘဝတွင် သာမန်ပြစ်ဒဏ်မျှသာ ဖြစ်ပေသည်။ နောင်တမလွန်ဘဝတွင် ခံစားကြရမည့် အတိုင်းမသိ ကြီးလေးလှသည့် ပြစ်ဒဏ်ကား သီးခြား ရှိပေသေးသည်။

(၁) ဤကဏ္ဍ၏ အဆုံးတွင် ဤကဏ္ဍ၏ အချုပ်သဘောကို မိန့်ဆိုထားတော်မူသည်။ ▷▷

# ဆွာဒ် ကဏ္ဍ

سُورَةُ صٓ

ဤကဏ္ဍသည် "ဆွာဒ်"ကဏ္ဍမည်၏။ မက္ကာမြို့တော်တွင် ကျရောက်ခဲ့၏။ ဤကဏ္ဍတွင် အာယတ်တော်(၈၈)ပါး၊ ရကူအ်အပိုဒ် (၅)ပိုဒ် အသီးသီးပါရှိ၏။

بِسْمِ اللَّهِ الرَّحْمَٰنِ الرَّحِيمِ

မပြတ်မစဲ သနားကြင်နာတော်မူသော
အနန္တကရုဏာတော်ရှင် ဖြစ်တော်မူသော
အလ္လာဟ်အရှင်မြတ်၏ နာမံတော်ဖြင့် အစပြုပါ၏။

صٓ وَالْقُرْآنِ ذِي الذِّكْرِ ①

၁။ "ဆွာဒ်"။ (ငါအရှင်မြတ်သည်) ကျော်စောကိတ္တိရှိသော အဆုံးအမနှင့်ပြည့်နှက်သော၊ မြင့်မြတ်သော ကုရ်အာန်ကျမ်းတော်မြတ်ကို သက်သေထူတော်မူ၏။

بَلِ الَّذِينَ كَفَرُوا فِي عِزَّةٍ وَشِقَاقٍ ②

၂။ ("ကာဖိရ်" သွေဖည်ငြင်းပယ်ကြကုန်သော သူတို့၏ သွေဖည်ငြင်းပယ်မှုသည် မည်သည့်သက်သေ အထောက်အထားကိုမျှ အခြေခံပြုထားခြင်း) အလျှင်းမဟုတ်၊ စင်စစ်မှာကား (ထို)"ကာဖိရ်" သွေဖည်ငြင်းပယ်သောသူတို့မှာ အယူသည်းမှု၌လည်းကောင်း၊ ဆန့်ကျင်ဖီလာပြုမှု၌လည်းကောင်း၊ ရှိနေကြကုန်၏။

---

➤➤ အလ္လာဟ်အရှင်မြတ်သည် အနန္တတန်ခိုးတော်ရှင် ဖြစ်တော်မူသည်။ ချို့တဲ့မှုအပေါင်းမှ လုံးဝကင်းစင်တော်မူသည်။ ထိုသို့သော တန်ခိုးတော်ရှင်၏ တမန်တော်များအပေါ်၌ (စလာမ်) ငြိမ်းချမ်းသာယာမှု အစုစုသည် သက်ရောက်သည်သာ ဖြစ်သည်။ သို့ဖြစ်ရာ ချီးမွမ်းထောပနာခြင်း အပေါင်းသည် စကြာဝဠာအဝန်းကို ဖန်ဆင်းမွေးမြူတော်မူသော အလ္လာဟ်အရှင်မြတ်နှင့်သာလျှင် အပ်စပ်ပေသတည်း။

(ဟဒီးဆ်) ဩဝါဒတော်များတွင် ဤကဏ္ဍ၏ နောက်ဆုံးအာယတ်တော်ကို ဆွလာတ်အပြီးတွင် လည်းကောင်း၊ အစည်းအဝေးများအပြီးတွင် လည်းကောင်း၊ ရွတ်ဖတ်သရဇ္ဈာယ်ခြင်းဖြင့် ကုသိုလ်အကျိုးများပြားကြောင်းလာရှိသည်။

كَمْ اَهْلَكْنَا مِنْ قَبْلِهِمْ مِّنْ قَرْنٍ فَنَادَوْا وَّلَاتَ حِيْنَ مَنَاصٍ ③

၃။ ငါအရှင်မြတ်သည် ၎င်းတို့အလျင် မြောက်မြားစွာသောလူမျိုးဆက်ကို ဖျက်ဆီးတော်မူခဲ့၏။ (ပျက်စီးသည့်အချိန်တွင်) ၎င်းတို့သည် ဟစ်အော်မြည်တမ်းခဲ့ကြကုန်၏။ သို့ရာတွင် အကျိုးမရှိပြီ၊ အဘယ်ကြောင့်ဆိုသော် ထိုအချိန်မှာ လွတ်မြောက်ရန်အချိန် မဟုတ်တော့ပြီ။ ၁

وَعَجِبُوْٓا اَنْ جَآءَهُمْ مُّنْذِرٌ مِّنْهُمْ ۫ وَقَالَ الْكٰفِرُوْنَ هٰذَا سٰحِرٌ كَذَّابٌ ④

၄။ စင်စစ်မှာမူကား ၎င်းတို့သည် မိမိတို့အနက်မှပင် သတိပေး နှိုးဆော်သူတစ်ဦး ရောက်ရှိ၍လာခဲ့ခြင်းကို အံ့သြခဲ့ကြကုန်၏။ ၎င်းပြင် "ကာဖိရ်"သွေဖည်ငြင်းပယ်သောသူတို့က ဤသည် လွန်စွာ မုသားပြောဆိုသူ ပဉ္စလက်ဆရာတစ်ဦးပင်ဖြစ်သည်ဟု ဆိုခဲ့ကြကုန်၏။ ၂

---

(၁) ကုရ်အာန်ကျမ်းမြတ်သည် အတိုင်းမသိ ကြီးကျယ်၏၊ မြင့်မြတ်၏၊ ကျော်ကြား၏။ တရားဓမ္မ အဆုံးအမနှင့်ပြည့်ဝလှ၏။ လူသားတို့အား အမှန်တရားကို ညွှန်ပြလျက်ရှိ၏။ သို့ပါလျက် ကာဖိရ်များသည် ကုရ်အာန်ကျမ်းမြတ်နှင့် တမန်တော်မြတ်အား လက်မခံကြပေ။ ယင်းသို့ လက်မခံခြင်းမှာ မပြောစကောင်း၊ ကုရ်အာန်ကျမ်းမြတ်၏ တရားဓမ္မတွင် တစ်စုံတစ်ရာ ချွတ်ယွင်းမှုရှိ၍လည်းမဟုတ်၊ တမန်တော်မြတ်၏ သွန်သင်ဆုံးမမှုတွင် တစ်စုံတစ်ရာ ချို့တဲ့မှုရှိ၍လည်းမဟုတ်။ လက်မခံခြင်း၏ အကြောင်းရင်းမှာ ယင်းကာဖိရ်များသည် မောက်မာမှု၊ ဘဝင်မြင့်မှု၊ အထင်ကြီးမှုမိုက်မဲမှု၊ ဆန့်ကျင်မှုအယူသည်းမှု စသည့် မိစ္ဆာမှောင်များတွင် နစ်မွန်းနေခြင်းပင်ဖြစ်သည်။ ဤသည့် မိစ္ဆာမှောင်အတွင်းမှ ထွက်လာခဲ့ကြသော် ၎င်းတို့သည် ကုရ်အာန်နှင့် တမန်တော်မြတ်၏ မှန်ကန်မှုကို အထင်အရှား တွေ့မြင်ကြရပေမည်။ လက်ခံကြပေမည်။

ယင်းသို့သော ကာဖိရ်များ သိထားအပ်ကြသည်မှာ အတိတ်ခေတ်များတွင်လည်း ၎င်းတို့ကဲ့သို့ပင် ကာဖိရ်များ ရှိခဲ့ကြပေသည်။ မောက်မာမှု၊ အယူသည်းမှုများကြောင့် တမန်တော်များအား သွေဖည်ဆန့်ကျင်နေခဲ့ကြသည်။ နောက်ဆုံးတွင် မရှုမလှ ကွပ်မျက်ခြင်း ခံသွားခဲ့ကြရပေသည်။ ထိုအခါကျမှ ဟစ်အော်မြည်တမ်းခဲ့ကြသည်။ သို့ရာတွင် အချိန်ကားနှောင်းချေပြီ။ အကျိုးမရှိပြီ။ သို့ဖြစ်ရာ လက်ရှိကာဖိရ်များသည် ဆက်လက် ဆိုးမိုက်နေကြပါက အတိတ်ခေတ် ကာဖိရ်များကဲ့သို့ပင် နောက်ဆုံးတွင် ကွပ်မျက်ခြင်း ခံကြရမည် သာတည်း။

(၂) လူသားတို့အား တရားဓမ္မ ဟောကြားရန်အတွက် လူသားတမန်တော်သာ ပွင့်ပေါ်ရပေမည်။ ကောင်းကင်တမန် မဖြစ်နိုင်။ ဤသည့်အချက်ကိုပင် ကာဖိရ်များသည် နားမလည်ကြသည့်အတွက် တမန်တော်မြတ်နှင့် ပတ်သက်၍ အခြေအမြစ်မရှိသော စကားများပြောဆို၍ သွေဖည်သွားခဲ့ကြလေသည်။

أَجَعَلَ الْآلِهَةَ إِلَٰهًا وَاحِدًا ۖ إِنَّ هَٰذَا لَشَيْءٌ عُجَابٌ ٥

၅။ ဤသူသည် များစွာသော ကိုးကွယ်ရာများ နေရာတွင် ကိုးကွယ်ရာ တစ်ဆူတည်းသာ ပြုလုပ်ချန်ထားလေသလော။ ဧကန်မလွဲ ဤသည် လွန်စွာ အံ့ဖွယ်ရာ တစ်ခုပင်ဖြစ်၏။

وَانطَلَقَ الْمَلَأُ مِنْهُمْ أَنِ امْشُوا وَاصْبِرُوا عَلَىٰ آلِهَتِكُمْ ۖ إِنَّ هَٰذَا لَشَيْءٌ يُرَادُ ٦

၆။ ထို့ပြင် ၎င်းတို့အနက် အကြီးအကဲများက (ငယ်သားများအား ဤသို့)(ပြောဆို)ထွက်သွားခဲ့ကြ၏။ *အသင်တို့သည် သွားကြလေကုန်၊* [၁] (တစ်နည်း) သွားကြစို့၊ ၎င်းပြင် အသင်တို့သည် မိမိတို့၏ (မိရိုးဖလာ)ကိုးကွယ်ရာများကိုသာ ကြံ့ခိုင်စွာ(ကိုးကွယ်လျက်) ရှိနေကြကုန်။ ဧကန်အမှန် ဤသည်၌ ၎င်း၏ ရည်ရွယ်ချက် တစ်ခုခု အမှန်ပင်ရှိ၏။ (တစ်နည်း) ဧကန်အမှန် ဤသည်အမှန်ပင် ရည်ရွယ်ချက် တစ်ခုခု ရှိ၏။ [၂]

---

(၁) ကာဖိရ်များက ငါတို့၏ ဘိုး၊ဘေးများသည် ဘုရားအများအပြား ကိုးကွယ်ခဲ့ကြသည်။ ဤမျှကြီးမားသော စကြာဝဠာတွင် များမြောင်လှသော လုပ်ငန်းများကို ဆောင်ကြဉ်းနိုင်ရန် ဘုရားအများအပြားပင် ရှိရပေမည်။ ဘုရားတစ်ပါးတည်း မဖြစ်နိုင်။ ယခုမူ (တမန်တော်မြတ်) မုဟမ္မဒ်သည် များစွာသော ဘုရားများကို ဖယ်ရှား၍ တစ်ဆူတည်းသော ဘုရားတစ်ပါးကိုသာ ကိုးကွယ်ရမည်ဟု ဆိုနေသည်။ ဤသည် အလွန်အံ့ဩဖွယ်ရာ ဖြစ်သည်ဟု ဆိုခဲ့ကြလေသည်။

(ရိဝါယက်) ကျမ်းချက်များတွင် လာရှိသည်မှာ တစ်ရက် တမန်တော်မြတ်၏ ဘကြီးတော် အဗူတွာလိဗ် မမာမကျန်း ဖြစ်သည့်အခါ အဗူဂျဟ်လ်နှင့် ကုရိုက်ရှ်မျိုးနွယ်၏ အကြီးအကဲများသည် လူမမာမေးရန် အဗူတွာလိဗ်ထံသို့ ရောက်ရှိလာခဲ့ကြ၏။ တမန်တော်မြတ်သည် အကြောင်းအားလျော်စွာ အဗူတွာလိဗ်ထံတွင် အသင့်ရောက်ရှိနေခဲ့၏။ ထိုအခါ ကုရိုက်ရှ်မျိုးနွယ်၏ အကြီးအကဲများက အဗူတွာလိဗ်အား မုဟမ္မဒ်သည် ငါတို့၏ကိုးကွယ်ရာများကို ဝေဖန်ပြစ်တင် ပြောဆိုနေသည်။ ငါတို့အား လူအူ၊ လူအ၊ များ ပြုလုပ်နေသည်။ ဆုံးမပေးပါဟု တိုင်တမ်းပြောဆိုခဲ့ကြ၏။

ထိုအခါ တမန်တော်မြတ်က ဘကြီး၊ ကျွန်တော်သည် ဤပုဂ္ဂိုလ်များထံမှ စကားတစ်ခွန်းသာ အလိုရှိပါသည်။ ထိုစကားကို ဤပုဂ္ဂိုလ်များ လက်ခံကြလျှင် အရဗ်တစ်မျိုးသားလုံးသည် ၎င်းတို့၏စကားကို နာခံလာကြမည်။ ထို့မျှမက အရဗ် မဟုတ်သူများသည်လည်း ၎င်းတို့ထံ အခွန်ဆက်သကြမည် ဖြစ်သည်ဟု ပြောပြတော်မူခဲ့၏။ ထိုအခါ ကုရိုက်ရှ်အကြီးအကဲများက ဝမ်းသာစွာဖြင့် ထိုစကားတစ်ခွန်းကား အဘယ်နည်း၊ အသင်သည် စကားတစ်ခွန်းအတွက်သာ ပြောနေသည်။ ငါတို့သည် စကား(၁၀)ခွန်းလက်ခံရန် အသင့်ရှိကြပါသည်ဟု ပြောဆိုခဲ့ကြ၏။ ထိုအခါတမန်တော်မြတ်က ကျွန်တော်သည် စကားများများအလိုမရှိပါ။ ➤➤

مَا سَمِعْنَا بِهٰذَا فِى الْمِلَّةِ الْاٰخِرَةِ ۖۚ اِنْ هٰذَآ اِلَّا اخْتِلَاقٌ ۝

၇။ ကျွန်ုပ်တို့သည် လွန်လေခဲ့ပြီးဖြစ်သောသာသနာတွင် ဤမည်သော စကားမျိုးကို ကြားခဲ့ဘူးကြသည် မရှိပေ။ ဤသည် လီဆယ်ဖန်တီးမှုမှအပ အခြား မဟုတ်ပြီ။ [၁]

---

➤➤ ထိုစကားမှာ အခြားမဟုတ် (لَآ اِلٰهَ اِلَّا اللّٰهُ) (လာအိလာဟအိလ္လလ္လာဟု) **"အလ္လာဟ်အရှင်မြတ်မှတစ်ပါး အခြားကိုးကွယ်ရာဟူ၍ အလျှင်းမရှိ"** ဟူသောစကားပင်။ ထိုအခါ ကုရိုက်ရှ်အကြီးအကဲများသည် ဒေါသအမျက် ခြောင်းခြောင်းထွက်ကာ မုဟမ္မဒ်သည် ဤရွေ့ဤမျှ များမြောင်လှသော ကိုးကွယ်ရာဘုရားများကိုဖယ်ရှားပြီး တစ်ဆူတည်းသော အလ္လာဟ်အရှင်မြတ်အား ကိုးကွယ်ရမည်ဟူ၍ပင် ပြောဆိုနေသည်။ အသင်တို့ထပြန်ကြ၊ ဤသူသည် မိမိ၏ဝါဒလမ်းစဉ်ကို ဘယ်သောအခါမှ စွန့်လွှတ်မည်မဟုတ်၊ သို့ဖြစ်ရာ ငါတို့သည် မုဟမ္မဒ်နှင့် ယှဉ်ပြိုင်နိုင်ရန်အတွက် ငါတို့၏ကိုးကွယ်ရာများကို ယခင်ကထက်ပို၍ ဖွဲ့သတ္တိကြီးမားဖြင့် ကိုးကွယ်ကြရမည်။ မိမိတို့၏ ဘိုး၊ ဘေးတို့၏ ရိုးရာလမ်းစဉ်ပေါ်၌ မယိမ်းမယိုင် ကျောက်တိုင်ပမာ ရပ်တည်နေကြရမည်ဟု ပြောဆိုထွက်ခွာသွားခဲ့ကြလေသည်။

(၂) ( اِنَّ هٰذَا لَشَىْءٌ يُّرَادُ ) (ဤအာယတ်တော်နှင့်စပ်လျဉ်း၍ မုဖတ်စ်စိရ်များသည် အောက်ပါအတိုင်း အမျိုးမျိုးဖွင့်ဆိုခဲ့ကြသည်။)

(၁) ကာဖိရ်များက (တမန်တော်မြတ်) မုဟမ္မဒ်သည် ငါတို့၏ကိုးကွယ်ရာများကို အကြီးအကျယ် ဆန့်ကျင်ကာ တစ်ဆူတည်းသော အလ္လာဟ်အရှင်မြတ်အားသာ ဆည်းကပ်ကိုးကွယ်ရမည့် အကြောင်းကို ဤရွေ့ဤမျှ ဒုက္ခခံ၍တင်ပြနေခြင်းမှာ အကြောင်းမဲ့မဟုတ်၊ သူ၌ ရည်ရွယ်ချက်တစ်ခုခုရှိမည်။ သူသည် အလ္လာဟ်အရှင်မြတ်၏ နာမတော်ကိုသုံး၍ ငါတို့အပေါ်၌ စိုးမိုးရန် ရည်ရွယ်ချက်ရှိသည်။ သို့ဖြစ်ရာ ငါတို့သည် သူ၏အကြံမအောင်မြင်ရန် ကြိုးစားကြရမည်ဟု ဆိုခဲ့ကြသည်ဟူ၏။

(၂) ဤအရေးသည် (တမန်တော်မြတ်)မုဟမ္မဒ် သန္နိဋ္ဌာန်ချထားပြီးဖြစ်သော အရေးအခင်းနှင့်တူသည်၊ သူသည် ဤအရေးတွင် အနည်းငယ်စိုးစဉ်းမျှ အလျှော့ပေးမည်မဟုတ် ဟူ၏။

(၃) ဤအရေးသည် မုချဖြစ်ပေါ်လာတော့မည့် အရေးနှင့်တူသည်။ ကမ္ဘာတွင် ပြောင်းလဲမှု မုချ ဖြစ်တော့မည်။ အလ္လာဟ်အရှင်မြတ်ကလည်း ဤအတိုင်း သဘောတူထားတော်မူပြီ ဟူ၏။

(၄) တစ်နည်း ကာဖိရ်များက ပြက်ရယ်သည့်သဘောဖြင့် ဤသည် (တမန်တော်မြတ်)မုဟမ္မဒ်၏ ရည်မှန်းချက်ဖြစ်သည်ကား မှန်၏။ သို့ရာတွင် ရည်မှန်းချက်အတိုင်း အောင်မြင်သည်မရှိဟူ၍ ဆိုခဲ့ကြသည်ဟူ၏။

တစ်နည်း ကာဖိရ်များက "အသင်တို့သည် မိမိတို့၏ ကိုးကွယ်ရာများကို ဆည်းကပ်ကိုးကွယ်ရာ၌ ကြံ့ခိုင်မှုရှိကြကုန်၊ ဤသည့် ကြံ့ခိုင်မှုသည် မုချ လိုလားအပ်သော အရာပင်ဖြစ်သည်" ဟူ၍ ဆိုခဲ့ကြသည်။ (ဃာဇီ)။

(၁) ဤအာယတ်တော်တွင် ပါရှိသော "အလ်မိလ္လတိလ်အာခိရဟ်" ဟူသည်အဘယ်နည်း။ အချို့က အရဗ်လူမျိုးတို့ အတိတ်ခေတ်အဆက်ဆက်က လက်ခံလာခဲ့ကြသလို အရဗ်တို့၏ မိဘရိုးရာဘာသာကိုပင် ဆိုလိုကြသည်။ အချို့က အီစာအီဘာသာကို ဆိုလိုကြသည်။ အဆို ၂-ရပ်လုံးဖြစ်နိုင်သည်။ ဆိုလိုသည်ကား ကာဖိရ်များက ➤➤

ءَاُنْزِلَ عَلَيْهِ الذِّكْرُ مِنْۢ بَيْنِنَا ۭ بَلْ هُمْ فِيْ شَكٍّ مِّنْ ذِكْرِيْ ۚ بَلْ لَّمَّا يَذُوْقُوْا عَذَابِ ۸

၈။ ကျွန်ုပ်တို့အားလုံးတို့အနက်မှ ၎င်း၏အပေါ်၌သာလျှင် ဆုံးမသြဝါဒသည် ချပေးခြင်း ခံရလေသလော။ [1] စင်စစ်မှာကား ၎င်းတို့သည် ငါအရှင်မြတ်၏ ဆုံးမသြဝါဒ (တစ်နည်း) ငါအရှင်မြတ်၏ “ဝဟယ်” အမိန့်တော်ထုတ်ပြန်ခြင်းနှင့်စပ်လျဉ်း၍ ဒွိဟသံသယ၌ပင် ရှိနေကြကုန်၏။ စင်စစ်မှာကား ၎င်းတို့သည် ငါအရှင်မြတ်၏ပြစ်ဒဏ်ကို မြည်းစမ်းခြင်း မပြုခဲ့ကြရသေးပေ။ [2]

---

➤➤ ငါတို့သည် ယခု(တမန်တော်မြတ်)မုဟမ္မဒ် တင်ပြနေသော ယုံကြည်ချက်ကို ငါတို့မိဘရိုးရာ လက်ခံလာခဲ့ကြသည့် ဘာသာတွင်လည်း တစ်ခါမျှ မကြားဘူးခဲ့ကြပေ။ ငါတို့၏ ဘိုးဘေးများကလည်း တစ်ခါမျှ ပြောကြားသွားခဲ့ကြ သည်မရှိပေ။ တစ်နည်း၊ ငါတို့သည် ဤသည့် ယုံကြည်ချက်ကို အီစာအီဘာသာတွင်လည်း မကြားဘူးကြပေ။ အီစာအီများသည်ပင် ဘုရားသုံးဆူကို ကိုးကွယ်ခဲ့ကြသည် ဟူ၏။ ကြည့်–မာဂျိဒီ။

(၁) ကာဖိရ်များက “အကယ်တန္တ၊ (ရိစာလတ်) တမန်တော်ဖြစ်မှုသည် အမှန်တကယ်ဖြစ်ရှိသည် မှန်ပါက ယင်းသည့်တမန်တော်ဂုဏ်ကို ငါတို့အတွင်းမှ ဥစ္စာဓန ကုံလုံကြွယ်ဝသော ရာထူးဌာနန္တရရှိသော သြဇာအာဏာရှိသော ဆွေမျိုးမိတ်သင်္ဂဟပေါများသော သဌေးကြီး၊အရာရှိကြီး၊ မျက်နှာကြီးတစ်ဦးဦးသာလျှင် ရသင့်ပေသည်။ (တမန်တော်မြတ်) မုဟမ္မဒ်ကဲ့သို့သော မိဘမဲ့ဆင်းရဲသားတစ်ဦးသည် တမန်တော် အသို့လျှင် ဖြစ်နိုင်အံ့နည်းဟု ဆိုခဲ့ကြလေသည်။ ဥစ္စာဂုဏ်၊ ရာထူးဂုဏ်၊ ဆွေမျိုးဂုဏ်သည် လူသားတို့အား ယခုခေတ်တွင်မှ ဖျက်ဆီးနေသည် မဟုတ်။ အတိတ်ခေတ်များတွင်လည်း လူသားတို့အား အဖျက်ကြီးဖျက်ဆီးခဲ့ကြပေပြီ၊ အမှားကြီးမှားစေခဲ့ပြီ။ ကြည့်–ကုရ်အာန်(၂း၂၄၆–၂၄၇)။ (၄၃း၃၁)။

(၂) ကာဖိရ်များသည်

(၁) လူသားအတွင်းမှ တမန်တော် ပွင့်ပေါ်လာခဲ့သည်ကိုလည်း မယုံကြည်ခဲ့ကြ၊

(၂) တမန်တော်မြတ်အားလည်း (စာဟိရ်) ပဥ္စလက်ဆရာဟု ကင်ပွန်းတပ်ခဲ့ကြသည်။

(၃)များစွာသော ကိုးကွယ်ရာများကို ဖယ်ရှား၍ တစ်ဆူတည်းသော အလ္လာဟ်အား ကိုးကွယ်ရမည်ဟု (တမန်တော်မြတ်) မုဟမ္မဒ်သည် တင်ပြသည်မှာလည်း အလွန်အံ့ဖွယ်ရာဖြစ်သည်ဟု ဆိုခဲ့ကြသည်။

(၄) (တမန်တော်မြတ်) မုဟမ္မဒ်သည် တစ်ဆူတည်းသော အလ္လာဟ်အကြောင်း ဟောပြောပြီး ငါတို့အပေါ်၌ စိုးမိုးလိုသည်ဟုလည်း ဆိုခဲ့ကြသည်။

(၅) (တမန်တော်မြတ်) မုဟမ္မဒ် တင်ပြနေသော အယူဝါဒကို ငါတို့ မကြားဖူးခဲ့ကြပေဟုလည်း ဆိုခဲ့ကြသည်။

(၆) အကယ်တန္တ၊ တမန်တော်ပွင့်ပေါ်ရန်ရှိက ငါတို့အတွင်းမှ မျက်နှာကြီးတစ်ဦးဦးသာလျှင် တမန်တော်အဖြစ် ပွင့်ပေါ်သင့်သည်၊ (တမန်တော်မြတ်) မုဟမ္မဒ်ကဲ့သို့ ဆင်းရဲသားတစ်ဦးသည် တမန်တော်ဂုဏ်ထူးနှင့် မသင့်ဟုလည်း ဆိုခဲ့ကြပေသည်။ ယင်းသို့ အခြေအမြစ်မရှိသော စကားများကို ကာဖိရ်များ ➤➤

أَمْ عِندَهُمْ خَزَآئِنُ رَحْمَةِ رَبِّكَ الْعَزِيزِ الْوَهَّابِ ⑨

၉။ ၎င်းတို့ထံ၌ အသင့်အား ဖန်ဆင်းမွေးမြူတော်မူသော၊ အလွန်တရာ နိုင်နင်းလွှမ်းမိုးတော်မူသော၊ အလွန်တရာ ရက်ရောစွာ ပေးကမ်းတော်မူသော အရှင်မြတ်၏ ကရုဏာတော်၏ ဘဏ္ဍာတော်များသည် ရှိလေသလော။

أَمْ لَهُم مُّلْكُ السَّمَٰوَاتِ وَالْأَرْضِ وَمَا بَيْنَهُمَا ۖ فَلْيَرْتَقُوا فِي الْأَسْبَابِ ⑩

၁၀။ သို့တည်းမဟုတ် ထိုသူတို့၌ မိုးကောင်းကင်များကိုလည်းကောင်း၊ ကမ္ဘာမြေကိုလည်းကောင်း၊ ယင်းမိုးကောင်းကင်များနှင့် ကမ္ဘာမြေ နှစ်ခုလုံး၏ အကြား၌ ရှိသမျှတို့ကိုလည်းကောင်း၊ စိုးမိုးအုပ်ချုပ်မှု အာဏာသည် ရှိလေသလော။ သို့ရှိခဲ့လျှင် ၎င်းတို့သည် ကြိုးများ၊ လှေကားများ တပ်ဆင်လျက် (မိုးကောင်းကင်သို့) တက်ကြရာကုန်၏။

جُندٌ مَّا هُنَالِكَ مَهْزُومٌ مِّنَ الْأَحْزَابِ ⑪

၁၁။ (၎င်းတို့သည်) ထိုနေရာတွင် (မက္ကာမြို့တော်တွင်) အုပ်စုများအနက်မှ အုပ်စုကလေးတစ်ခုပင် ဖြစ်သည်။ မကြာမီ ရှုံးနိမ့်ရတော့မည်။

كَذَّبَتْ قَبْلَهُمْ قَوْمُ نُوحٍ وَعَادٌ وَفِرْعَوْنُ ذُو الْأَوْتَادِ ⑫

၁၂။ ၎င်းတို့အလျင်လည်း (နဗီတမန်တော်) "နူးဟ်" ၏အမျိုးသားတို့သည်လည်းကောင်း၊ "အာဒ်"အမျိုးသားတို့သည်လည်းကောင်း၊ သံငုတ်များရှင်ဖြစ်သော "ဖစ်ရ်အောင်န်" သည်လည်းကောင်း၊ (နဗီတမန်တော်များအား) မုသာဝါဒီများဟူ၍ စွပ်စွဲငြင်းပယ်ခဲ့ကြကုန်၏။

---

➤➤ ပြောဆိုနေခဲ့ကြခြင်းမှာ အခြားအကြောင်းကြောင့်မဟုတ်၊ အမှန်မှာ ၎င်းတို့သည် အလ္လာဟ်အရှင်မြတ်၏ ဒေသနာတော်နှင့်စပ်လျဉ်း၍ပင် ဒွိဟဖြစ်နေခဲ့ကြသည်။ အနာဂတ်တွင် မုချဖြစ်ပေါ်လာမည့် အန္တရာယ်ကို မယုံကြည်ခဲ့ကြပေ။ သို့မယုံကြည်ကြခြင်း မှာလည်း ယင်းကာဖိရ်များသည် ယခုထက်တိုင် အလ္လာဟ်အရှင်မြတ်၏ ပြစ်ဒဏ်ကို မခံစားရသေးခြင်းကြောင့် ဖြစ်သည်။ ပြစ်ဒဏ်ကို မျက်မျက်သက်သက် ခံစားကြရသည့်အခါ အကြောင်းသိသွားကြပေမည်။ အဖြောင့်ကြီး ဖြောင့်သွားကြပေမည်။

وَثَمُودُ وَقَوْمُ لُوطٍ وَأَصْحَٰبُ لْـَٔيْكَةِ ۚ أُو۟لَٰٓئِكَ ٱلْأَحْزَابُ ﴿١٣﴾

၁၃။ ထိုနည်းတူစွာ "ဆမူဒ်" အမျိုးသားတို့သည်
လည်းကောင်း၊ (နဗီတမန်တော် "လူတ်"၏ အမျိုးသား
တို့သည်လည်းကောင်း၊ "အိုက်ကဟ်" တောအုပ်၌
နေကြသောသူတို့သည်လည်းကောင်း (တမန်တော်များ
အား မုသာဝါဒီများဟူ၍ စွပ်စွဲငြင်းပယ်ခဲ့ကြကုန်၏)။
ထိုသူတို့ကား အုပ်စုကြီးများပင်။

إِن كُلٌّ إِلَّا كَذَّبَ ٱلرُّسُلَ فَحَقَّ عِقَابِ ﴿١٤﴾

၁၄။ (ယင်းအုပ်စုကြီးများအနက်) အသီးသီးတို့သည်
ရဆူလ် တမန်တော်တို့အား မုသာဝါဒီများဟူ၍ စွပ်စွဲ
ငြင်းပယ်ခဲ့ကြပေရာ ငါအရှင်မြတ်၏ ပြစ်ဒဏ်သည်
(၎င်းတို့အပေါ်၌) သက်ရောက်ခဲ့လေ၏။

وَمَا يَنظُرُ هَٰٓؤُلَآءِ إِلَّا صَيْحَةً وَٰحِدَةً مَّا لَهَا مِن فَوَاقٍ ﴿١٥﴾

၁၅။ စင်စစ်သော်ကား ဤသူတို့သည် စက္ကန့်ပိုင်း
မျှပင် ဆိုင်းငံ့ခြင်းမရှိ(ဘဲ အဆက်မပြတ် ပေါ်ထွက်
လာမည်ဖြစ်)သော ပြင်းထန်လှသည့် ဟစ်အော်သံ
တစ်ခုကိုသာလျှင် စောင့်စား၍ နေကြကုန်၏။

وَقَالُوا۟ رَبَّنَا عَجِّل لَّنَا قِطَّنَا قَبْلَ يَوْمِ ٱلْحِسَابِ ﴿١٦﴾

၁၆။ ထိုမှတစ်ပါး ၎င်းတို့သည် (တမန်တော်မြတ်
အား ပြက်ရယ် ပြောင်လှောင်သောအားဖြင့်) အို-
ကျွန်တော်မျိုးတို့အား ဖန်ဆင်း မွေးမြူတော်မူသော
အရှင်၊ အရှင်မြတ်သည် စစ်ဆေးမေးမြန်းမည့်နေ့
မတိုင်မီပင် ကျွန်တော်မျိုးတို့အား ကျွန်တော်မျိုးတို့၏
ဝေစုဝေပုံကို အလျင်အမြန် ပေးတော်မူပါဟု လျှောက်
ထားခဲ့ကြကုန်သတည်း။

ٱصْبِرْ عَلَىٰ مَا يَقُولُونَ وَٱذْكُرْ عَبْدَنَا دَاوُۥدَ ذَا ٱلْأَيْدِ ۖ إِنَّهُۥٓ أَوَّابٌ ﴿١٧﴾

၁၇။ (အို-နဗီတမန်တော်) အသင်သည် ၎င်းတို့၏
ပြောဆိုချက်များအပေါ်၌ သည်းခံပါလေ။ ၎င်းပြင်
အသင်သည် ငါအရှင်မြတ်၏ကျွန် စွမ်းအားသတ္တိရှင်
ဖြစ်သူ (နဗီတမန်တော်) "ဒါဝူဒ်"(၏ အကြောင်း
အတ္ထုပ္ပတ္တိ)ကို ပြန်လည်စဉ်းစားသတိရပါလေ၊

ကေန်မလွဲ ထို "ဒါဝူဒ်" သည် (ငါအရှင်မြတ်ဘက်သို့) လွန်စွာ ပြန်လှည့်သူဖြစ်ခဲ့၏။ ၁

إِنَّا سَخَّرْنَا الْجِبَالَ مَعَهُ يُسَبِّحْنَ بِالْعَشِيِّ وَالْإِشْرَاقِ ﴿١٨﴾

၁၈။ ကေန်အမှန် ငါအရှင်မြတ်သည် တောင်များအား ထို "ဒါဝူဒ်"နှင့်အတူ လိုက်နာစေတော်မူခဲ့ရာ ယင်းတောင်များမှာ (ထိုဒါဝူဒ်နှင့်အတူ) ညနေချမ်း၌လည်းကောင်း၊ နံနက်ယံ၌လည်းကောင်း၊ (ငါအရှင်မြတ်) စင်ကြယ် သန့်ရှင်းတော်မူကြောင်း ဘာဝနာစီးဖြန်း မြွက်ဆိုလျက် ရှိခဲ့ကြကုန်၏။

وَالطَّيْرَ مَحْشُورَةً كُلٌّ لَّهُ أَوَّابٌ ﴿١٩﴾

၁၉။ ထိုနည်းတူစွာ (ငါအရှင်မြတ်သည်) ငှက်တိရစ္ဆာန်များကိုလည်း စုရုံးစေလျက် (လိုက်နာစေတော်မူခဲ့ရာ ယင်းငှက်တိရစ္ဆာန်များမှာ) ထို"ဒါဝူဒ်" နှင့်အတူ (အလ္လာဟ်ဘက်တော်သို့) လွန်စွာ ပြန်လှည့်သူများ (ဘာဝနာစီးဖြန်းသူများ)ပင် ဖြစ်ခဲ့ကြကုန်၏။

① **တမန်တော် ဒါဝူဒ်၊**

တမန်တော်မြတ်သည် ကာဖိရ်များပြောဆိုကြသည့် စိတ်နာကြည်းဖွယ် စကားများအပေါ်၌ သည်းခံတော်မူမည်သာ။ အဘယ်ကြောင့်ဆိုသော် သည်းခံမှု၏ အကျိုးမှာ နောက်ဆုံးတွင် အောင်မြင်မှုသာဖြစ်သည်။

တမန်တော်ဒါဝူဒ်သည် တမန်တော်လည်းဖြစ်ခဲ့၏။ ဘုရင်လည်းဖြစ်ခဲ့၏။ အထူးထူးသော စွမ်းရည်သတ္တိများနှင့်လည်း ပြည့်စုံခဲ့၏။ ဓမ္မစက်၊အာဏာစက်၊ နှစ်ခုစလုံးလည်း ရရှိခဲ့၏။ တမန်တော်ဒါဝူဒ်သည် "တွာလူတ်" လက်ထက်တွင်၊ အံ့ဖွယ်သရဲသည်းခံခဲ့၏။ နောက်ဆုံးတွင် ရန်သူဖြစ်သော 'ဂျာလူတ်'နှင့် အပေါင်းပါတို့အား နှိမ်နင်း၍ တိုင်းပြည်ကို ကောင်းမွန်စွာ စိုးမိုးအုပ်ချုပ်ခဲ့၏။ တမန်တော်မြတ်သည်လည်း စံမတူအောင် သည်းခံတော်မူခဲ့ပေရာ နောက်ဆုံးတွင် အောင်မြင်ခြင်းကြီးမက အောင်မြင်တော်မူခဲ့ပေသည်။

တမန်တော်ဒါဝူဒ်၏ ဂုဏ်ထူးဝိသေသတစ်ရပ်မှာ "ဇာလ်အိုက်ဒ်" ဟူ၍ဖြစ်သည်။ ဤပုဒ်ကို အချို့က စွမ်းရည်သတ္တိရှင် (ဝါ) အုပ်ချုပ်မှု အာဏာစက်ရှင်ဟူ၍ အနက်ဖွင့်ကြသည်။ အချို့ကဤပုဒ်ကို လက်များရှင် (ဝါ) တမန်တော်ဒါဝူဒ်သည် ပြည်သူ့ဘဏ္ဍာတော်ကို အသုံးမပြုဘဲ သံကိုပျော့ပျောင်းစေပြီး သံချပ်အင်္ကျီ၊ သံကွင်းဆက်များကို ပိုင်နိုင်စွာပြုလုပ်၍ မိမိ၏လက်ရုံးရည်ဖြင့် အသက်မွေးဝမ်းကျောင်းရှာခဲ့သူဟူ၍ အနက်ဖွင့်ကြပေသည်။

တမန်တော်ဒါဝူဒ်၏ သြဇာအာဏာသည် တောင်များနှင့် ငှက်တိရစ္ဆာန်များပေါ်၌လည်း သြောင်းခဲ့သည့်အကြောင်း၊ တမန်တော်ဒါဝူဒ်သည် သံကိုပျော့ပျောင်းစေပြီး သံချပ်အင်္ကျီ၊ သံကွင်းဆက်များကို ပိုင်နိုင်စွာပြုလုပ်ခဲ့သည့်အကြောင်း ကုရ်အာန်(၃၄း၁၀-၁၁)တွင်လည်း ပါရှိသည်။ တမန်တော် ဒါဝူဒ်၏အကြောင်း ယခင်က အကြိမ်ကြိမ်ပါရှိခဲ့ပေပြီ။ ကြည့်-ကုရ်အာန်(၂း၂၅၁။ ၄း၁၆၃။ ၆း၈၅။ ၁၇း၅၅။ ၂၁း၇၈-၈၀)။

وَشَدَدۡنَا مُلۡكَهُۥ وَءَاتَيۡنَٰهُ ٱلۡحِكۡمَةَ
وَفَصۡلَ ٱلۡخِطَابِ ﴿٢٠﴾

၂၀။ ထိုမှတစ်ပါး ငါအရှင်မြတ်သည် ထို(နဗီတမန်တော်)“ဒါဝူဒ်”၏ နိုင်ငံကို ခိုင်ခံ့စေတော်မူခဲ့သည့်ပြင် ထိုဒါဝူဒ်အား ဆင်ခြင်တုံတရားကိုလည်းကောင်း၊ စကားအဆုံးအဖြတ်ပေးနိုင်သော ဉာဏ်စွမ်းကိုလည်းကောင်း၊ ချီးမြှင့် ပေးသနားတော်မူခဲ့ပေသတည်း။

وَهَلۡ أَتَىٰكَ نَبَؤُاْ ٱلۡخَصۡمِ
إِذۡ تَسَوَّرُواْ ٱلۡمِحۡرَابَ ﴿٢١﴾

၂၁။ ၎င်းပြင် (အို-နဗီတမန်တော်) အသင့်ထံ ပဋိပက္ခဖြစ်သူများ၏အကြောင်းသတင်းသည် ရောက်လာလေသလော။ တစ်ရံရောအခါဝယ် ထိုပဋိပက္ခဖြစ်သူတို့သည် နံရံကိုကျော်တက်၍ ဝတ်ပြုဆောင်ထဲသို့ ခုန်ချခဲ့ကြလေ၏။

إِذۡ دَخَلُواْ عَلَىٰ دَاوُۥدَ فَفَزِعَ
مِنۡهُمۡۖ قَالُواْ لَا تَخَفۡۖ خَصۡمَانِ
بَغَىٰ بَعۡضُنَا عَلَىٰ بَعۡضٖ فَٱحۡكُم
بَيۡنَنَا بِٱلۡحَقِّ وَلَا تُشۡطِطۡ وَٱهۡدِنَآ
إِلَىٰ سَوَآءِ ٱلصِّرَٰطِ ﴿٢٢﴾

၂၂။ ၎င်းတို့သည် (နဗီတမန်တော်) “ဒါဝူဒ်”၏ ထံသို့ ဝင်ရောက်ခဲ့ကြသောအခါ ထို“ဒါဝူဒ်”သည် ၎င်းတို့အား ကြောက်ရွံ့စိုးရိမ်ခဲ့လေ၏။ (ထိုအခါ) ၎င်းတို့က ပြောဆိုခဲ့ကြသည်မှာ အသင် မစိုးရိမ် မကြောက်ရွံ့ပါလေနှင့်။ (ကျွန်ုပ်တို့သည်) နှစ်ဖက်သော အမှုသည်များ ဖြစ်ကြပါသည်။ ကျွန်ုပ်တို့အနက် တစ်ဦးသည် တစ်ဦး၏အပေါ်၌ မတရားကျူးလွန်ခဲ့ပါသည်။ သို့ဖြစ်ပေရာ အသင်သည် ကျွန်ုပ်တို့၏အကြား၌ မတရားပြုလုပ်ခြင်းမရှိဘဲ မှန်ကန်စွာစီရင်ဆုံးဖြတ်၍ ပေးပါလေ။ ထိုမှတစ်ပါး အသင်သည် ကျွန်ုပ်တို့အား ဖြောင့်မတ်သောလမ်းကို ညွှန်ပြပါလေ။

إِنَّ هَٰذَآ أَخِي لَهُۥ تِسۡعٞ
وَتِسۡعُونَ نَعۡجَةٗ وَلِيَ نَعۡجَةٞ
وَٰحِدَةٞ فَقَالَ أَكۡفِلۡنِيهَا
وَعَزَّنِي فِي ٱلۡخِطَابِ ﴿٢٣﴾

၂၃။ ဧကန်စင်စစ် ဤသူသည် ကျွန်ုပ်နှင့်ညီအစ်ကို တော်စပ်သူဖြစ်ပါသည်။ ၎င်း၌ သိုးမ ကိုးဆယ့်ကိုး ကောင်ရှိ၍ ကျွန်ုပ်တွင်မူ သိုးမတစ်ကောင်တည်းသာ ရှိပါသည်။ သို့ပါလျက် ဤသူသည် “ယင်းသိုးမကိုလည်း ကျွန်ုပ်အား လွှဲအပ်လော့”ဟု ပြောဆိုပါသည်။ ထိုမှတစ်ပါး ၎င်းသည် စကားပြောရာ၌လည်း ကျွန်ုပ်အား နိုင်ပါသည်။

قَالَ لَقَدْ ظَلَمَكَ بِسُؤَالِ
نَعْجَتِكَ إِلَىٰ نِعَاجِهِ ۖ وَإِنَّ كَثِيرًا
مِّنَ الْخُلَطَاءِ لَيَبْغِي بَعْضُهُمْ
عَلَىٰ بَعْضٍ إِلَّا الَّذِينَ آمَنُوا
وَعَمِلُوا الصَّالِحَاتِ وَقَلِيلٌ
مَّا هُمْ ۗ وَظَنَّ دَاوُودُ أَنَّمَا فَتَنَّاهُ
فَاسْتَغْفَرَ رَبَّهُ وَخَرَّ رَاكِعًا
وَأَنَابَ ۩ ﴿٢٤﴾

၂၄။ (ထိုအခါ) ထို(နဗီတမန်တော်) "ဒါဝူဒ်"သည် (ဤသို့)ပြောကြားခဲ့လေ၏။ ဤသူသည် အသင်၏ သိုးမကို ၎င်း၏သိုးမများနှင့် ပေါင်းရန်တောင်းဆိုခြင်းအားဖြင့် မုချမလွဲ အသင့်အား မတရားပြုလုပ်ခဲ့လေ၏။ စင်စစ်မှာကား "အီမာန်" သက်ဝင်ယုံကြည်ပြီးနောက် ကောင်းမြတ်သော အကျင့်သီလများကို ဆောက်တည်ကြသောသူတို့မှအပ များစွာသောစီးပွားဘက်တို့မှာ တစ်ဦးအပေါ်တစ်ဦး အမှန်ပင် မတရားကျူးလွန်လေ့ရှိကြ၏။ သို့ရာတွင် ထို(သက်ဝင်ယုံကြည်၍ ကောင်းမြတ်သော အကျင့်သီလများကို ကျင့်မှုဆောက်တည်ကြသော) သူတို့မှာမူကား လွန်စွာနည်းပါးလှ၏။

ထို့ပြင် (နဗီတမန်တော်)"ဒါဝူဒ်" သည် ၎င်းအား ငါအရှင်မြတ် စမ်းသပ်တော်မူခြင်းသာဖြစ်ကြောင်း ရိပ်မိခဲ့လေ၏။ သို့ဖြစ်ပေရာ ထို"ဒါဝူဒ်" သည် မိမိအရှင်မြတ်အထံတော်တွင် ခွင့်လွှတ်ချမ်းသာ ပေးတော်မူပါမည့်အကြောင်း တောင်းပန် အသနားခံ၍ ဦးညွှတ်ကျလာခဲ့၏။ ထိုမှတစ်ပါး (မိမိအရှင်မြတ် အထံတော်သို့) စိတ်ထားဖြူစင်စွာ ပြန်လှည့်ခဲ့လေ၏။ [1]

---

**(၁) တမန်တော်ဒါဝူဒ် အစမ်းအသပ်ခံရခြင်း၊**

တမန်တော်ဒါဝူဒ်သည် လုပ်ငန်းသုံးရပ်အတွက် (၃)ရက်ကို ခွဲခြားထားခဲ့၏။ အမှုအခင်းများကို စီရင်ဆုံးဖြတ်ရန်အတွက် တစ်ရက်သတ်မှတ်ထားခဲ့၏။ မိမိအိမ်သူအိမ်သားများနှင့် အတူနေထိုင်ရန် တစ်ရက်သတ်မှတ်ထားခဲ့၏။ အလ္လာဟ်အရှင်မြတ်အား တစ်စိတ်တစ်လက်တည်း ဝတ်ပြုနိုင်ရန်အတွက် တစ်ရက်သတ်မှတ်ထားခဲ့၏။ တမန်တော်ဒါဝူဒ်သည် ဝတ်ပြုရန်သတ်မှတ်ထားသည့်နေ့တွင် တစ်ကိုယ်တည်းနေလေ့ရှိခဲ့၏။ တံခါးစောင့်တို့အား မည်သူ့ကိုမျှ ဝင်ခွင့်မပြုရန် အမိန့်ထုတ်ထားခဲ့၏။

တစ်ရက် တမန်တော်ဒါဝူဒ်သည် ဝတ်ပြုဆောင်တွင် တစ်ကိုယ်တည်း ဝတ်ပြုလျက်ရှိခဲ့၏။ ထိုအချိန်တွင် ရုတ်တရက် မမျှော်လင့်ဘဲ ပုဂ္ဂိုလ်အချို့သည် နံရံကိုကျော်တက်ပြီး တမန်တော်ဒါဝူဒ်ထံသို့ ရောက်ရှိလာခဲ့ကြ၏။ တမန်တော်ဒါဝူဒ်သည် တန်ခိုးဂုဏ်သိန် ကြီးမားသော ဘုရင်တစ်ပါး၊ တမန်တော်တစ်ပါးဖြစ်ခဲ့သည်။ သို့ပါလျက် ရုတ်တရက် မမျှော်လင့်ဘဲ ယင်းသည့် ဖြစ်ရပ်ကို တွေ့မြင်ရသည့်အခါ ▶▶

➤➤ ထိတ်ထိတ်ပျာပျာ ဖြစ်သွားခဲ့၏။ ဤပုဂ္ဂိုလ်များသည် လူသားများလော၊ သို့မဟုတ် အခြားသတ္တဝါများလော။ လူသားများဖြစ်ပါက ကျွန်ုပ်ထံအချိန်မဟုတ်ဘဲ အသို့လျှင်ဝင်ရောက် လာဝံ့ကြသနည်း။ တံခါးစောင့်များသည် အဘယ်ကြောင့် မတားမြစ်ကြသနည်း။ ဤပုဂ္ဂိုလ်များသည် တံခါးပေါက်မှ ရိုးရိုးဝင်လာကြသည် မဟုတ်ပါက ဤမျှမြင့်မားသော တံတိုင်းကို မည်သို့မည်ပုံ ကျော်တက်ဝင်ရောက်လာ ကြသနည်း၊ စသည်ဖြင့် တွေးတောကာ တစ်စိတ်တစ်လက်တည်း အလ္လာဟ်အရှင်မြတ်အား ဝတ်ပြုနေရာမှ ထိုပုဂ္ဂိုလ်များဘက်သို့ ယိမ်းယိုင်သွားခဲ့လေသည်။

ဝတ်ပြုဆောင်အတွင်းသို့ ဝင်လာသူများက တမန်တော်ဒါဝူဒ်အား "အသင်မစိုးရိမ်ပါနှင့်၊ ကျွန်ုပ်တို့အား မကြောက်ပါနှင့်၊ ကျွန်ုပ်တို့သည် အချင်းချင်း အငြင်းပွားနေသော အမှုသည်များ ဖြစ်ကြပါသည်။ အဆုံးအဖြတ် ခံယူရန် အသင့်ထံရောက်ရှိလာခြင်း ဖြစ်ပါသည်။

အသင်သည် ကျွန်ုပ်တို့၏ အငြင်းပွားမှုကို တရားသဖြင့် စီရင် ဆုံးဖြတ်ပေးပါ၊ မတရား မပြုလုပ်ပါနှင့်၊ အချိန်မဆွဲပါနှင့်၊ ကျွန်ုပ်တို့အား မှန်ကန်မျှတသော လမ်းစဉ်ကိုသာ ညွှန်ပြပါ" ဟု ပြောဆိုခဲ့ကြ၏။ (ယင်းသို့ ပြောဆိုကြသည်များကို ကြား၍ တမန်တော်ဒါဝူဒ်သည် ပို၍ပင် အံ့သြသွားခဲ့ပေမည်)။

ထို့နောက် ဝင်ရောက်လာသူများအနက် တစ်ဦးကပြောပြသည်မှာ ဤပုဂ္ဂိုလ်သည် ကျွန်ုပ်၏နောင်တော် ဖြစ်ပါသည်။ သူ့ထံ၌ သိုးမ(၉၉)ကောင် ရှိပါသည်။ ကျွန်ုပ်ထံမှာ သိုးမ(၁)ကောင်သာ ရှိပါသည်။ ဤသူသည် မိမိသိုးမများကို ကောင်ရေ (၁၀၀)တိတိ ဖြစ်စေရန်အတွက် ကျွန်ုပ်၌ရှိသော သိုးမ(၁)ကောင်ကိုပင် ကျွန်ုပ်ထံမှ အနိုင်အထက် ရယူလိုပါသည်။

ဤသူသည် ဥစ္စာပစ္စည်းတွင် ကျွန်ုပ်ထက် ပိုမိုကြွယ်ဝသကဲ့သို့ စကားအရာတွင် လည်း ပိုမိုကြွယ်ဝပါသည်။ စကားပြောဆိုရာတွင် ကျွန်ုပ်ကို နိုင်သည်သာ ဖြစ်ပါသည်။ လူများသည်လည်း သူ၏ စကားကိုပင် အမှန်ဟူ၍ ထင်မှတ်ကြပါသည်။ အချုပ်မှာ ဤသူသည် ကျွန်ုပ်ပိုင်ဆိုင်သော ပစ္စည်းကို အတင်းအဓမ္မ ရယူရန် ကြိုးစားနေပါသည်ဟု တင်ပြလေသည်။

တမန်တော်ဒါဝူဒ်သည် တရားဥပဒေအရ နှစ်ဦးနှစ်ဖက်မှ တင်ပြချက်များနှင့် သက်ဆိုင်ရာ အထောက် အထားများကို ကြားနာပြီးနောက် "အသင်၏ နောင်တော်သည် ဤသို့ ပြုမူကျင့်ကြံပါက ဤသည် သူ၏မတရား ကျူးကျော်စော်ကားမှုသာ ဖြစ်သည်။

ထိုသူသည် ဤသို့ဖြင့် မိမိ၏ဆင်းရဲသားညီနောင်၏ ပစ္စည်းကို အပိုင်စီးလိုသည်။ စီးပွားဘက်များသည် အများအားဖြင့် တစ်ဦးကိုတစ်ဦး ကျူးကျော်စော်ကားလေ့ ရှိကြသည်။ ကြွယ်ဝချမ်းသာသူများသည် ဆင်းရဲသားများကို ဝါးမျိုလေ့ရှိကြသည်။ အလ္လာဟ်အရှင်မြတ်အား ယုံကြည်မြတ်နိုး၍ ကောင်းမြတ်သော အကျင့်သီလများကို ဆောက်တည်ကြကုန်သော သူတော်စင်များမှာကား ဤသို့ မတရားမပြုကြပေ။

ထိုသို့သော သူတော်စင်များမှာလည်း အလွန်တရာမျှ နည်းပါးလှသည်။ အချုပ်မှာ ကျွန်ုပ်သည် ဤသို့ မတရား ပြုမူကျင့်ကြံသည်ကို ခွင့်ပြုမည်မဟုတ်" ဟု မိန့်ကြားလိုက်လေသည်။

တမန်တော်ဒါဝူဒ်သည် ယင်းသည့်ဖြစ်ရပ်ကို တွေ့မြင်ပြီးနောက် ဤသည် အလ္လာဟ်အရှင်မြတ်က မိမိအား စမ်းသပ်တော်မူခြင်း ဖြစ်သည်ကို ရိပ်စားမိလေသည်။ ယင်းသို့ ရိပ်စားမိသည့်အခါ မိမိ၏အမှားကို ဝန်ချတောင်းပန်ရန် အသနားခံနိုင်ရန်အလို့ငှာ အလွန်ကျိုးနွံစွာဖြင့် အလ္လာဟ်အရှင်မြတ်၏ ရှေ့တော်၌ ဦးညွှတ် ချခဲ့လေသည်။ နောက်ဆုံးတွင် အလ္လာဟ်အရှင်မြတ်သည် တမန်တော်ဒါဝူဒ်အား ချမ်းသာခွင့် ပြုတော်မူခဲ့လေသည်။

فَغَفَرْنَا لَهُ ذٰلِكَ ۖ وَإِنَّ لَهُ عِنْدَنَا لَزُلْفٰى وَحُسْنَ مَاٰبٍ ﴿٢٥﴾

၂၅။ သို့ဖြစ်ပေရာ ငါအရှင်မြတ်သည် ထို"ဒါဝူဒ်" အား ယင်းကိစ္စကို ခွင့်လွှတ်တော်မူခဲ့၏။ စင်စစ်သော်ကား ထို"ဒါဝူဒ်" အဖို့ ငါအရှင်မြတ်အထံတော်၌ (ထူးကဲ မြင့်မြတ်သော) အဆင့်အတန်းသည်လည်းကောင်း၊ ကောင်းမြတ်သော နောက်ဆုံးအကျိုးဆက်သည်လည်းကောင်း၊ အမှန်ပင် ရှိပေသတည်း။

يٰدَاوٗدُ إِنَّا جَعَلْنٰكَ خَلِيفَةً فِى الْأَرْضِ فَاحْكُم بَيْنَ النَّاسِ بِالْحَقِّ وَلَا تَتَّبِعِ الْهَوٰى فَيُضِلَّكَ عَن سَبِيلِ اللّٰهِ ۚ إِنَّ الَّذِينَ يَضِلُّونَ عَن سَبِيلِ اللّٰهِ لَهُمْ عَذَابٌ شَدِيدٌۢ بِمَا نَسُوا يَوْمَ الْحِسَابِ ﴿٢٦﴾

၂၆။ အို-"ဒါဝူဒ်"၊ စေကန်စင်စစ် ငါအရှင်မြတ်သည် အသင့်အား ကမ္ဘာမြေ၌ ကိုယ်စားလှယ် ခန့်အပ်တော်မူခဲ့ပေရာ အသင်သည် လူတို့၏အကြား၌ မှန်ကန်စွာ တရားစီရင် ဆုံးဖြတ်ပါလေ။ ၎င်းပြင် အသင်သည် စိတ်၏အလိုဆန္ဒကို မလိုက်စားလေနှင့်၊ သို့ လိုက်စားခဲ့မူ ယင်းစိတ်၏အလိုဆန္ဒသည် အသင့်အား အလ္လာဟ်အရှင်မြတ်၏လမ်းမှ လွဲမှားစေပေလိမ့်မည်။ [၁] စေကန်စင်စစ် အလ္လာဟ်အရှင်မြတ်၏ လမ်းတော်မှ လွဲမှားကြကုန်သောသူများ၌မူကား၊ ၎င်းတို့သည် စစ်ဆေးမေးမြန်းသောနေ့ကို မေ့လျော့ခဲ့ကြခြင်းကြောင့် ပြင်းထန်လှစွာသော ပြစ်ဒဏ်သည် ရှိချေအံ့သတည်း။ [၂]

(၁) အလ္လာဟ်အရှင်မြတ်သည် တမန်တော်ဒါဝူဒ်အား ကမ္ဘာမြေပြင်တွင် "ခလီဖဟ်" ကိုယ်စားလှယ်တော်အဖြစ်လည်း ခန့်အပ်ထားတော်မူရာ၊ တမန်တော် ဒါဝူဒ်သည် တမန်တော်အဖြစ်နှင့် တရားဓမ္မဟောကြား၍ ခလီဖဟ်အဖြစ်နှင့် တိုင်းပြည်ကို အုပ်ချုပ်စီမံကွပ်ကဲရပေသည်။ အမှုအခင်းများကို စီရင်ဆုံးဖြတ်ပေးရမည်။ ဆိုလိုသည်ကား အာဏာစက်နှင့်ဓမ္မစက်သည် အချင်းချင်း အညမညဖြစ်ရပေမည်။ အထောက်အကူ ဖြစ်စေရပေမည်။ စိတ်၏ အလိုဆန္ဒနောက်သို့ မလိုက်ပါရာ။ စိတ်၏ အလိုဆန္ဒနောက်သို့ လိုက်ပါမိပါက၊ အလ္လာဟ်အရှင်မြတ်၏လမ်းတော်နှင့် ကင်းကွာသွားရပေမည်။

(၂) များသောအားဖြင့် လူသားတို့သည် စာရင်းအင်းရှင်းမည့်နေ့ကို မေ့နေကြသည့်အတွက် စိတ်၏ အလိုဆန္ဒကို လိုက်ကာ၊ အလ္လာဟ်အရှင်မြတ်၏ လမ်းတော်နှင့် ကင်းကွာနေကြသည်။ အလွဲလွဲအမှားမှား ဖြစ်နေကြသည်။ အကယ်၍ လူသားတို့သည် စာရင်းအင်းရှင်းရမည့်နေ့ကို သတိရကာ တစ်ရက် ငါတို့သည် အလ္လာဟ်အရှင်မြတ်၏ ရှေ့တော်မှောက်သို့ ရောက်၍ မိမိတို့၏ စာရင်းများ ရှင်းကြရမည့်အရေးကို နှလုံးပိုက်ကြပါက၊ မည်သူမျှ ထိုအရှင်မြတ်အား ဆန့်ကျင်ဝံ့မည် မဟုတ်ပေ၊ အလွဲလွဲအမှားမှား ဖြစ်မည်မဟုတ်ပေ။

وَمَا خَلَقْنَا السَّمَاءَ وَالْأَرْضَ وَمَا بَيْنَهُمَا بَاطِلًا ۚ ذَٰلِكَ ظَنُّ الَّذِينَ كَفَرُوا ۚ فَوَيْلٌ لِّلَّذِينَ كَفَرُوا مِنَ النَّارِ ﴿٢٧﴾

၂၇။ စင်စစ်သော်ကား ငါအရှင်မြတ်သည် မိုးကောင်းကင်ကိုလည်းကောင်း၊ ပထဝီမြေကိုလည်းကောင်း၊ ယင်းမိုးကောင်းကင်နှင့် ပထဝီမြေနှစ်ခု၏အကြား၌ရှိသည်တို့ကိုလည်းကောင်း၊ အချည်းနှီးအကြောင်းမဲ့ ဖန်ဆင်းတော်မူခဲ့သည်မဟုတ်ပေ။ ဤသည် (ဝါ) (အကြောင်းမဲ့ဟူ၍ယူဆခြင်းမှာ) "ကာဖိရ်" သွေဖည်ငြင်းပယ်သောသူတို့၌ ငရဲမီးဖြင့် ပျက်စီးခြင်းရှိပေသည်။

أَمْ نَجْعَلُ الَّذِينَ آمَنُوا وَعَمِلُوا الصَّالِحَاتِ كَالْمُفْسِدِينَ فِي الْأَرْضِ أَمْ نَجْعَلُ الْمُتَّقِينَ كَالْفُجَّارِ ﴿٢٨﴾

၂၈။ ငါအရှင်မြတ်သည် "အီမာန်" သက်ဝင်ယုံကြည်ပြီးနောက် ကောင်းမြတ်သော အကျင့်သီလများကို ကျင့်မူဆောက်တည်ကြသောသူတို့အား တိုင်းပြည်ဝယ် သောင်းကျန်းဖျက်ဆီးမှုကို ပြုလုပ်ကြသောသူတို့ကဲ့သို့ ပြုလုပ်တော်မူပါမည်လော၊ သို့တည်းမဟုတ် ငါအရှင်မြတ်သည် ပြစ်မှုဒုစရိုက်များမှ ကြဉ်ရှောင်ကြကုန်သောသူတော်စင်တို့အား သွေဖည်ဆိုးသွမ်းသောသူတို့ကဲ့သို့ ပြုလုပ်တော်မူပါမည်လော။

كِتَابٌ أَنزَلْنَاهُ إِلَيْكَ مُبَارَكٌ لِّيَدَّبَّرُوا آيَاتِهِ وَلِيَتَذَكَّرَ أُولُو الْأَلْبَابِ ﴿٢٩﴾

၂၉။ (ဤသည်) အသင့်ထံသို့ ငါအရှင်မြတ် ချပေးတော်မူခဲ့သောကျမ်းဂန်တစ်စောင်ဖြစ်၏။ "ဗရ်ကတ်" မင်္ဂလာနှင့်ပြည့်စုံ၏။ (ယင်းကျမ်းဂန်ကို ချပေးတော်မူခြင်းကား) လူတို့သည် ယင်းကျမ်းဂန်၏ အာယတ်တော်များကို စဉ်းစားဆင်ခြင်ကြအံ့သောငှာ လည်းကောင်း၊ အသိအမြင်ရှိသောသူတို့သည် တရားရယူကြအံ့သော အကျိုးငှာလည်းကောင်း၊ ဖြစ်ပေသတည်း။

وَوَهَبْنَا لِدَاوُودَ سُلَيْمَانَ ۚ نِعْمَ الْعَبْدُ ۖ إِنَّهُ أَوَّابٌ ﴿٣٠﴾

၃၀။ ထိုမှတစ်ပါး ငါအရှင်မြတ်သည် (နဗီတမန်တော်) "ဒါဝူဒ်" အား (နဗီတမန်တော်)"စုလိုင်မာန်"ကို ချီးမြှင့် ပေးသနားတော်မူခဲ့၏။ စကန်မလွဲ ထို "စုလိုင်မာန်" သည် (ငါအရှင်မြတ် အထံတော်သို့) လွန်စွာ ပြန်လှည့်သူပင် ဖြစ်ခဲ့လေ၏။

إِذْ عُرِضَ عَلَيْهِ بِالْعَشِيِّ الصَّٰفِنَٰتُ الْجِيَادُ ﴿٣١﴾

၃၁။ တစ်ရံရောအခါဝယ် လျင်မြန်ပေါ့ပါးသော မျိုးကောင်းမြင်းများသည် ညနေချမ်းအချိန်၌ ထို "စုလိုင်မာန်" ၏ရှေ့ဝယ် တင်ပြခြင်းကို ခံခဲ့ကြရလေ၏။

فَقَالَ إِنِّيٓ أَحْبَبْتُ حُبَّ الْخَيْرِ عَن ذِكْرِ رَبِّي حَتَّىٰ تَوَارَتْ بِالْحِجَابِ ﴿٣٢﴾

၃၂။ ထိုအခါ ထို"စုလိုင်မာန်"က ငါသည် မိမိအား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်၏ အမိန့်တော်ကြောင့် မြောက်မြားစွာသောပစ္စည်းများကို(ဝါ) မြင်းများကို ခုံမင်မြတ်နိုးခြင်းကို နှစ်သက် တာဝန်ယူဆောင်ရွက်ခဲ့သည်ဟုပြောဆိုခဲ့လေ၏။ နောက်ဆုံးတွင် ထိုမြင်းများမှာ အကွယ်၌ ကွယ်ပျောက်၍ သွားခဲ့ကြလေ၏။

رُدُّوهَا عَلَيَّ فَطَفِقَ مَسْحًا بِالسُّوقِ وَالْأَعْنَاقِ ﴿٣٣﴾

၃၃။ (ထိုအခါ နဗီတမန်တော် "စုလိုင်မာန်"သည် မြင်းထိန်းတို့အား) အသင်တို့သည် ထိုမြင်းများကို ငါ၏ရှေ့မှောက်ဝယ် ပြန်လည်၍ သွင်းခဲ့ကြလေကုန် (ဟု အမိန့်ပေးခဲ့လေ၏)။ ထို့နောက် (ထိုမြင်းများမှာ နဗီတမန်တော် စုလိုင်မာန်၏ရှေ့ဝယ် ပြန်လည်၍ ရောက်ရှိလာကြလေသော်) ထို"စုလိုင်မာန်"သည် (ထိုမြင်းများ၏) ခြေသလုံးများ (ခြေထောက်များ)ကိုလည်းကောင်း၊ လည်ကုပ်များကိုစတင်ပွတ်သပ်ခြင်းကို ပြုလုပ်ခဲ့ပေသတည်း။ ၁

---

① **တမန်တော်စုလိုင်မာန်၊**

တမန်တော်စုလိုင်မာန်နှင့် မြင်းများအကြောင်း ပါရှိသော ကုရ်အာန်ကျမ်းလာ အာယတ်တော် (၃၈း၃၁-၃၃)ကို ဖွင့်ဆိုရာတွင် အဆိုသုံးရပ်ကို တွေ့ရှိရပေသည်။

(၁) တစ်ကြိမ်သော် တမန်တော်စုလိုင်မာန်သည် အလ္လာဟ်အရှင်မြတ်၏ လမ်းတော်တွင်(ဂျိဟာဒ်) စစ်မက်ပြိုင်ဆိုင်တိုက်ခိုက်ရန် အရေးကြုံလာသည့်အတွက်၊ မြင်းဇောင်းများမှ စစ်မြင်းများကို ထုတ်ပြရန် ဆင့်ဆိုခဲ့၏။ တမန်တော်စုလိုင်မာန်သည် အဆိုပါစစ်မြင်းများကို ကြည့်ရှုနေခဲ့ရာ၊ "အဆွရ်"ဆွလာတ် ဝတ်ပြုချိန် ကုန်လွန်သွားခဲ့၏။ နောက်ဆုံး နေပင်ဝင်သွားခဲ့၏။ တမန်တော် စုလိုင်မာန်သည် ထိုသည့်ဖြစ်ရပ်ကို ဆင်ခြင်မိသောအခါ၊ ဥစ္စာပစ္စည်း၏ အချစ်သည် အလ္လာဟ်အရှင်မြတ်အား ဝတ်ပြုမှုကို လွှမ်းမိုးသွားခဲ့လေပြီဟု ➤➤

وَلَقَدْ فَتَنَّا سُلَيْمٰنَ وَاَلْقَيْنَا عَلٰى كُرْسِيِّهٖ جَسَدًا ثُمَّ اَنَابَ ﴿٣٤﴾

၃၄။ ထိုမှတစ်ပါး ဧကန်မလွဲ ငါအရှင်မြတ်သည် (နဗီတမန်တော်) "စုလိုင်မာန်" အား စမ်းသပ်တော်မူခဲ့၏။ စင်စစ် ငါအရှင်မြတ်သည် ၎င်း၏ပလ္လင်ပေါ်ဝယ် ခန္ဓာကိုယ်တစ်ခုကို ချပေးတော်မူခဲ့၏။ သို့ရှိရာ ထို"စုလိုင်မာန်" သည် ပြန်လှည့်ခဲ့လေ၏။

قَالَ رَبِّ اغْفِرْ لِىْ وَهَبْ لِىْ مُلْكًا لَّا يَنْۢبَغِىْ لِاَحَدٍ مِّنْۢ بَعْدِىْۚ اِنَّكَ اَنْتَ الْوَهَّابُ ﴿٣٥﴾

၃၅။ ထို"စုလိုင်မာန်"သည် လျှောက်ထားပန်ကြားခဲ့လေ၏။ အို-ကျွန်တော်မျိုးအား ဖန်ဆင်းမွေးမြူတော်မူသောအရှင်၊ အရှင်မြတ်သည် ကျွန်တော်မျိုးအား ခွင့်လွှတ်ချမ်းသာပေးတော်မူပါ။ ၎င်းအပြင် အရှင်မြတ်သည် ကျွန်တော်မျိုးမှတစ်ပါး မည်သူတစ်စုံတစ်ယောက်မျှပင်မရထိုက်သော စိုးမိုးအုပ်ချုပ်မှုမျိုးကို ကျွန်တော်မျိုးအား ချီးမြှင့်တော်မူပါ၊ ဧကန်စင်စစ် အရှင်မြတ်သည် လွန်စွာ ရက်ရောစွာ ပေးကမ်းတော်မူသော အရှင်ပင် ဖြစ်တော်မူပါသည်။ ¹

---

➤➤ ဝန်ခံပြောဆို၍ ယူကြုံးမရ ဖြစ်ခဲ့လေသည်။ အလ္လာဟ်အရှင်မြတ်အား ဝတ်ပြုရာတွင် အဆိုပါ မြင်းများကြောင့် ကြန့်ကြာနှောင့်နှေးရသည့်အတွက်၊ အမျက်ထွက်ကာ အဆိုပါမြင်းများကို ပြန်လည်ထုတ်စေပြီး မြင်းအားလုံးကို လှီးဖြတ်ပစ်ခဲ့လေသည်။

ဤဖွင့်ဆိုချက်အရ ( اَحْبَبْتُ حُبَّ الْخَيْرِ عَنْ ذِكْرِ رَبِّىْ ) ဟူသော အာယတ်တော်၏ အဓိပ္ပာယ်မှာ "ကျွန်ုပ်သည် မိမိ၏အရှင်အား အောက်မေ့တသ သတိရခြင်းမှ မေ့လျော့ကာ ဥစ္စာပစ္စည်းကို ခုံမင်ခဲ့သည်" ဟူ၍ ဖြစ်သွားပေမည်။ ထို့နောက် ( حَتّٰى تَوَارَتْ بِالْحِجَابِ ) ဟူသော အာယတ်တော်၏ အဓိပ္ပာယ်မှာ "ဤမျှတိုင် ထိုအရာ(ဝါ)နေသည် အကွယ်၌ ပျောက်ကွယ်သွားခဲ့လေသည်" ဟူ၍ ဖြစ်သွားပေမည်။ ထို့ပြင် ( فَطَفِقَ مَسْحًاۢ بِالسُّوْقِ وَالْاَعْنَاقِ ) ဟူသော အာယတ်တော်၏ အဓိပ္ပာယ်မှာ "ထိုတမန်တော် စုလိုင်မာန်သည် (မြင်းများ၏) ခြေထောက်များနှင့် လည်ကုပ်များကို ဖြတ်တောက်လိုက်လေတော့သည်" ဟူ၍ ဖြစ်သွားပေမည်။

ဣဗ်နုကဆီရ်ကျမ်းရှင်သည် အထက်ဖော်ပြပါ အဆိုကို နှစ်သက်ခဲ့သည်။ အတိတ်ခေတ် မုဖတ်စ်စိရ် အများစုကြီး၏ ယူဆချက်မှာလည်း ဤအတိုင်းပင် ဖြစ်သည်ဟု ဆိုခဲ့လေသည်။

① တမန်တော်စုလိုင်မာန်က အရှင်မြတ်သည် ကျွန်တော်မျိုးအား အကြင်သို့သော စိုးမိုးမှုကို ပေးသနားတော်မူပါ၊ ထိုစိုးမိုးမှုကို ကျွန်တော်မျိုးမှတစ်ပါး မည်သူတစ်ဦးတစ်ယောက်မျှ မရရှိပါစေနှင့်၊ ထိုက်တန်သူ တစ်ဦးတစ်ယောက်မျှ မပေါ်ပါစေနှင့်၊ သို့မဟုတ် ထိုစိုးမိုးမှုကို ကျွန်တော်မျိုးထံမှ မည်သူတစ်ဦးတစ်ယောက်မျှ ပြန်လည်သိမ်းပိုက်နိုင်ဝံ့သည် မရှိပါစေနှင့်ဟူ၍ ဆုပန်ကြားခဲ့လေသည်။ အလ္လာဟ်အရှင်မြတ်ကလည်း ဆုတောင်းပြည့်စေတော်မူခဲ့သည်၊ ➤➤

فَسَخَّرْنَا لَهُ الرِّيحَ تَجْرِي بِأَمْرِهِ رُخَاءً حَيْثُ أَصَابَ ﴿٣٦﴾

၃၆။ သို့ဖြစ်၍ ငါအရှင်မြတ်သည် ထို"စုလိုင်မာန်"၏အဖို့ လေကို ၎င်း၏လက်အောက်ခံအဖြစ် ဆောင်ရွက်စေတော်မူခဲ့ရာ ထိုလေသည် ထို"စုလိုင်မာန်" အလိုရှိရာအရပ်သို့ ၎င်း၏အမိန့်နှင့် ညင်သာစွာ တိုက်ခတ် သွားလာနေခဲ့သည်။

وَالشَّيَاطِينَ كُلَّ بَنَّاءٍ وَغَوَّاصٍ ﴿٣٧﴾

၃၇။ ထိုနည်းတူစွာ (ငါအရှင်မြတ်သည်) ဆိုးသွမ်းသော ဂျင်န်(န်)များ (ဝါ) အဆောက်အအုံ ဆောက်သူတိုင်းကိုလည်းကောင်း၊ ရေငုပ်သူတိုင်းကိုလည်းကောင်း။

وَآخَرِينَ مُقَرَّنِينَ فِي الْأَصْفَادِ ﴿٣٨﴾

၃၈။ သံကြိုးများဖြင့် ပူးတွဲတုပ်နှောင်ထားခြင်း ခံကြရသော အခြားဂျင်န်(န်)တို့ကိုလည်းကောင်း၊ (ထို"စုလိုင်မာန်"၏ လက်အောက်ခံများအဖြစ် ဆောင်ရွက်စေတော်မူခဲ့၏)။

هَٰذَا عَطَاؤُنَا فَامْنُنْ أَوْ أَمْسِكْ بِغَيْرِ حِسَابٍ ﴿٣٩﴾

၃၉။ (၎င်းပြင် ငါအရှင်မြတ်သည် "စုလိုင်မာန်"အား မိန့်ကြားတော်မူခဲ့၏။) ဤသည် ငါအရှင်မြတ်၏ ဆုကျေးဇူးတော်ပင်ဖြစ်၏။ သို့ရာတွင် အသင်သည် (တစ်ဦးတစ်ယောက်အား) ပေးကမ်းသည် ဖြစ်စေ၊ မပေးဘဲနေသည်ဖြစ်စေ မည်သို့မျှ စာရင်းရှင်းရန် မလိုပေ။

---

➢➢ တမန်တော် စုလိုင်မာန်၏ ဆုပန်ကြားမှုတွင် ဘုရင်ယောင် သန်းလျက်ရှိသည်။ အကြောင်းကား တမန်တော် စုလိုင်မာန်သည် တမန်တော်တစ်ပါးသာမက ဘုရင်တစ်ပါးလည်း ဖြစ်ခဲ့သည်။ ထို့ပြင်တစ်ဝ၊ တမန်တော်စုလိုင်မာန်၏ခေတ်တွင် ဘုရင်ဆိုးများ ကြီးစိုးလျက် ရှိခဲ့ကြပေသည်။ ထို့အတွက် တမန်တော်စုလိုင်မာန်က ယင်းသို့ ဆုပန်ကြားခဲ့ခြင်းဖြစ်သည်။

ဟဒီးဆ်သြဝါဒတော်များတွင် လာရှိသည်မှာ အလ္လာဟ်အရှင်မြတ်သည် တမန်တော်အသီးသီးအား၊ ဆုမွန်တစ်ပါးနှင့်စပ်လျဉ်း၍ လက်ခံသဘောတူတော်မူမည့် အကြောင်း၊ ဆုတောင်းပြည့် ဖြစ်စေတော်မူမည့်အကြောင်း ကတိပြုထားတော်မူသည်။ တမန်တော်စုလိုင်မာန်၏ အထက်ပါဆုမွန်မှာ အဆိုပါဆုတောင်းပြည့်ပင် ဖြစ်တန်ရာသည်။ တိုင်းပြည်ကိုစိုးမိုး၍ အာဏာတန်ခိုးပြခြင်းသည် တမန်တော်များ၏ ရည်ရွယ်ချက်မဟုတ်၊ တမန်တော်များ၏ အဓိကရည်ရွယ်ချက်မှာ အလ္လာဟ်အရှင်မြတ်၏ သာသနာတော်ကို ဖြန့်ချီရန်နှင့် ထိုသာသနာကို လွတ်လပ်စွာ ကျင့်သုံးနိုင်ရန်သာဖြစ်သည်။ ဓမ္မစကားသည်အဓိကဖြစ်သည်။ အာဏာစကားသည် အထိန်းသာဖြစ်သည်။

وَاِنَّ لَهٗ عِنْدَنَا لَزُلْفٰى وَحُسْنَ مَاٰبٍ ﴿٤٠﴾

၄၀။ စင်စစ်သော်ကား ထို"စုလိုင်မာန်"၌ ငါ အရှင်မြတ်အထံတော်တွင်၊ (အထူး)အဆင့်အတန်းနှင့် ကောင်းမြတ်သော နောက်ဆုံးအကျိုးဆက်သည် အမှန်ပင် ရှိပေသတည်း။

وَاذْكُرْ عَبْدَنَآ اَيُّوْبَ ۘ اِذْ نَادٰى رَبَّهٗٓ اَنِّىْ مَسَّنِىَ الشَّيْطٰنُ بِنُصْبٍ وَّعَذَابٍ ؕ﴿٤١﴾

၄၁။ ၎င်းပြင် "(အို-နဗီတမန်တော်) အသင်သည် ငါအရှင်မြတ်၏ကျွန်(နဗီတမန်တော်)"အိုက်ယူဗ်" (၏အကြောင်း အတ္တုပ္ပတ္တိ)ကို ပြန်လည်စဉ်းစား သတိရပါလေ။ တစ်ရံရောအခါဝယ် ထို "အိုက်ယူဗ်" သည် မိမိအရှင်မြတ်အား "စင်စစ်ကေန် ရှိုင်တွာန် မိစ္ဆာကောင်သည် ကျွန်တော်မျိုး၌ ရောဂါဝေဒနာကို လည်းကောင်း၊ ဘေးဒုက္ခကိုလည်းကောင်း၊ သက်ရောက် စေခဲ့ပါသည်"ဟု *ဟစ်အော်(လျှောက်ထား)ခဲ့လေ၏၊* [၁]

اُرْكُضْ بِرِجْلِكَ ۚ هٰذَا مُغْتَسَلٌۢ بَارِدٌ وَّشَرَابٌ ﴿٤٢﴾

၄၂။ (ထိုရောအခါဝယ် ငါအရှင်မြတ်သည် မိန့်ကြား တော်မူခဲ့၏။ အို-အိုက်ယူဗ်) အသင်သည် မိမိ ခြေထောက်ဖြင့် (မြေကြီးကို)ဆောင့်ပါလေ၊ ဤသည် (အသင့်အဖို့) အေးမြသောချိုးရေသည်လည်းကောင်း၊ သောက်ရေသည်လည်းကောင်း၊ ဖြစ်ပါ၏။

---

(၁) **တမန်တော်အိုက်ယူဗ်။**

ကုရ်အာန်ကျမ်းလာ အာယတ်တော်များကို လေ့လာခြင်းအားဖြင့်၊ တစ်စုံတစ်ရာ မကောင်းမှုအန္တရာယ် ဖြစ်ပေါ်လာသည်ကိုလည်းကောင်း၊ ကောင်းမွန်သော လုပ်ငန်းစဉ်တစ်ရပ် ပျက်ပြားရသည်ကိုလည်းကောင်း၊ ရှိုင်တွာန်၏ အမှောင့်ပရောဂကြောင့် ဖြစ်ရသည်ဟု မိန့်ဆိုထားတော်မူသည်ကို တွေ့ရှိရပေသည်။ ဥပမာ- ကုရ်အာန်ကျမ်းမြတ်(၁၈း၆၃)တွင် တမန်တော်မူစာ၏အကြောင်း ( وَمَآ اَنْسٰنِيْهُ اِلَّا الشَّيْطٰنُ اَنْ اَذْكُرَهٗ ) (ကျွန်ုပ်အား ထိုအရာကို ရှိုင်တွာန်ကပင် မေ့လျော့စေခဲ့ပါသည်) ဟူ၍ မေ့လျော့မှုကို ရှိုင်တွာန်၏ ပရောဂဟု မိန့်ဆိုထားတော်မူသည်။ အဘယ့်ကြောင့်ဆိုသော ယင်းသို့ မေ့မှားမှုများတွင် တစ်နည်းတစ်ဖုံ ရှိုင်တွာန်၏ ပရောဂပါရှိသည်သာဖြစ်သည်။ ဤသည့်သဘောအရ တမန်တော်အိုက်ယူဗ်ကလည်း မိမိ၌သက်ရောက်ခဲ့သော ဘေးဒုက္ခနှင့် စပ်လျဉ်း၍ ရှိုင်တွာန်ကို အကြောင်းပြုပြီး "ရှိုင်တွာန်သည် ကျွန်တော်မျိုး၌ ရောဂါဝေဒနာနှင့် ဘေးဒုက္ခ သက်ရောက်စေခဲ့ပါသည်"ဟု အလ္လာဟ်အရှင်မြတ်ထံတော်၌ လျှောက်ထားခဲ့ခြင်းဖြစ်သည်။

တမန်တော်အိုက်ယူဗ်အကြောင်း ကုရ်အာန်(၄း၁၆၃။ ၆း၈၅။ ၂၁း၈၃)တွင် ပါရှိခဲ့ပေပြီ။ ➤➤

وَوَهَبْنَا لَهُۥٓ أَهْلَهُۥ وَمِثْلَهُم مَّعَهُمْ رَحْمَةً مِّنَّا وَذِكْرَىٰ لِأُو۟لِى ٱلْأَلْبَٰبِ ﴿٤٣﴾

၄၃။ ထို့ပြင် ငါအရှင်မြတ်သည် မိမိအထံတော်မှ ကရုဏာတော်ဖြင့်လည်းကောင်း၊ အသိဉာဏ်ရှိသူတို့ သတိရစေခြင်းငှာလည်းကောင်း၊ ထို "အိုက်ယူဗ်" အား ၎င်း၏ အိမ်သူအိမ်သားတို့ကို ချီးမြှင့်တော်မူသည့် အပြင် ထိုအိမ်သူအိမ်သားတို့နှင့် အညီအမျှ(ဖြစ်သော ဦးရေ)ကိုလည်း ၎င်းတို့နှင့်အတူ (ထပ်လောင်း၍) ချီးမြှင့် ပေးသနားတော်မူခဲ့၏။

وَخُذْ بِيَدِكَ ضِغْثًا فَٱضْرِب بِّهِۦ وَلَا تَحْنَثْ ۗ إِنَّا وَجَدْنَٰهُ صَابِرًا ۚ نِّعْمَ ٱلْعَبْدُ ۖ إِنَّهُۥٓ أَوَّابٌ ﴿٤٤﴾

၄၄။ ထို့ပြင် (ငါအရှင်မြတ်သည် ဤသို့မိန့်ကြားတော်မူခဲ့၏)။ အသင်သည် မိမိလက်တွင်းဝယ် အခက်အလက် လက်တစ်ဆုပ်ကိုယူပြီးလျှင် ၎င်းဖြင့် ရိုက်လော့။ ထို့ပြင် အသင်သည် (မိမိ ကျိန်ဆိုချက်ကို ချိုးဖျက်ခြင်းမပြုပါလေနှင့်၊ ဧကန်စင်စစ် ငါအရှင်မြတ် သည် ထို"အိုက်ယူဗ်"အား သည်းခံသူအဖြစ် တွေ့ရှိတော်မူခဲ့၏။ အထူးကောင်းမွန်သော ကျွန်တစ်ပါးဖြစ်ခဲ့၏။ ဧကန်မလွဲ ထို"အိုက်ယူဗ်"သည် (ငါအရှင်မြတ် အထံတော်သို့) လွန်စွာပြန်လှည့်သူလည်း ဖြစ်ခဲ့ပေသတည်း။

وَٱذْكُرْ عِبَٰدَنَآ إِبْرَٰهِيمَ وَإِسْحَٰقَ وَيَعْقُوبَ أُو۟لِى ٱلْأَيْدِى وَٱلْأَبْصَٰرِ ﴿٤٥﴾

၄၅။ ထို့ပြင် (အို-နဗီတမန်တော်) အသင်သည် စွမ်းရည် သတ္တိရှိသူများ၊ ဉာဏ်အမြော်အမြင်ရှိသူ များဖြစ်ကြသော၊ (နဗီတမန်တော်) "အီဗ်ရာဟီမ်" (နဗီတမန်တော်) "အီစ်ဟာက်" နှင့် (နဗီတမန်တော်) "ယအ်ကူဗ်" တို့(၏အကြောင်း အတ္ထုပ္ပတ္တိများ)ကို ပြန်လည်စဉ်းစား သတိရပါလေ။

➤➤ တမန်တော် အိုက်ယူဗ်၌ ဘေးဒုက္ခအမျိုးမျိုး ရောက်ခဲ့သည်မှာမှန်၏။ သို့ရာတွင် ယင်းသည့်ဘေးဒုက္ခများကို အချို့ကျမ်းများတွင် စက်ဆုပ်ရွံရှာဖွယ် ဖြစ်လာရသည်အထိ ပုံကြီးချဲ့ရေးသားထားကြသည်မှာ တမန်တော်တစ်ပါး၏ ဂုဏ်သိက္ခာကို ထိခိုက်စေသည်။ မှန်လည်းမမှန်ပေ။ ဤအကြောင်း ကုရ်အာန် (၂၁း၈၃-၈၄)တွင် ရေးသားခဲ့ပေပြီ။

إِنَّآ أَخْلَصْنَٰهُم بِخَالِصَةٍ ذِكْرَى ٱلدَّارِ ﴿٤٦﴾

၄၆။ ဧကန်မလွဲ ငါအရှင်မြတ်သည် တမလွန်ဘဝကို သတိရခြင်းတည်းဟူသော ထူးခြားချက်တစ်ရပ်ဖြင့်၊ ၎င်းတို့အား ထူးခြားစေတော်မူခဲ့၏။

وَإِنَّهُمْ عِندَنَا لَمِنَ ٱلْمُصْطَفَيْنَ ٱلْأَخْيَارِ ﴿٤٧﴾

၄၇။ ထိုမှတစ်ပါး မလွဲဧကန် ၎င်းတို့သည် ငါ အရှင်မြတ် အထံတော်တွင် အကောင်းဆုံးသော ရွေးချယ်ခြင်း ခံခဲ့ကြရသော သူတို့အနက်မှပင် ဖြစ်ကြကုန်၏။

وَٱذْكُرْ إِسْمَٰعِيلَ وَٱلْيَسَعَ وَذَا ٱلْكِفْلِ ۖ وَكُلٌّ مِّنَ ٱلْأَخْيَارِ ﴿٤٨﴾

၄၈။ ထိုမှတစ်ပါး (အို-နဗီတမန်တော်) အသင်သည် (နဗီတမန်တော်)"အိစ်မာအီလ်"၊ (နဗီတမန်တော်) "အလ်ယစအ်"နှင့် (နဗီတမန်တော်)"ဇွလ်ကိဖ်လ်"တို့ (၏အကြောင်း အတ္ထုပ္ပတ္တိများ)ကိုလည်း စဉ်းစားသတိရပါလေ။ စင်စစ်သော်ကား (၎င်းတို့) အသီးသီးတို့မှာလည်း အကောင်းဆုံးသော သူတို့အနက်မှပင် ဖြစ်ခဲ့ကြကုန်သတည်း။

هَٰذَا ذِكْرٌ ۚ وَإِنَّ لِلْمُتَّقِينَ لَحُسْنَ مَـَٔابٍ ﴿٤٩﴾

၄၉။ ဤသည် ဆုံးမသြဝါဒတစ်မျိုးပင်၊ (ဤသည် အဆုံးအမ သြဝါဒတစ်ပါးပင်)၊ ၎င်းပြင် ဧကန်မလွဲ သူတော်စင်တို့ အဖို့ ကောင်းမြတ်သော နောက်ဆုံး အကျိုးဆက်သည် အမှန်ပင်ရှိ၏။

جَنَّٰتِ عَدْنٍ مُّفَتَّحَةً لَّهُمُ ٱلْأَبْوَٰبُ ﴿٥٠﴾

၅၀။ ထာဝစဉ်နေထိုင်ရန် ဥယျာဉ်များသည် ရှိကြပေသည်။ (ယင်းဥယျာဉ်များ၏)တံခါးမှာ ၎င်းတို့အဖို့ (အသင့်) ဖွင့်လှစ်၍ထားပြီး ဖြစ်ပေသည်။

مُتَّكِـِٔينَ فِيهَا يَدْعُونَ فِيهَا بِفَٰكِهَةٍ كَثِيرَةٍ وَشَرَابٍ ﴿٥١﴾

၅၁။ (၎င်းတို့သည်) ယင်းဥယျာဉ်များ၌ မှီအုံးများကိုမှီလျက် ရှိကြပေမည်။ များစွာသော သစ်သီးဝလံများကိုလည်းကောင်း၊ သောက်သုံးဖွယ်ရာများကိုလည်းကောင်း၊ ယင်းဥယျာဉ်များတွင် မှာယူကြပေမည်။

وَعِنْدَهُمْ قٰصِرٰتُ الطَّرْفِ اَتْرَابٌ ﴿٥٢﴾

၅၂။ ထိုမှတစ်ပါး၊ ၎င်းတို့ထံတွင် မျက်စိကို အောက်သို့ နှိမ့်ထားလေ့ရှိကြသော မိန်းမများလည်း ရှိကြပေမည်။

هٰذَا مَا تُوْعَدُوْنَ لِيَوْمِ الْحِسَابِ ﴿٥٣﴾

၅၃။ ဤသည် စစ်ဆေးမေးမြန်းမည့်နေ့နှင့် စပ်လျဉ်း၍ အသင်တို့ ကတိပေးခြင်း ခံကြရလေသောအရာပင်၊ (ကျေးဇူးတော်ပင်)။

اِنَّ هٰذَا لَرِزْقُنَا مَا لَهٗ مِنْ نَّفَادٍ ﴿٥٤﴾

၅၄။ ဧကန်မလွဲ ဤသည် ငါအရှင်မြတ်၏ ဆုကျေးဇူးတော်ပင် ဖြစ်ပေသည်။ ယင်း ဆုကျေးဇူးတော်မှာ ကုန်ခန်းခြင်းသည် အလျှင်း မရှိပြီတကား။

هٰذَا ۗ وَاِنَّ لِلطّٰغِيْنَ لَشَرَّ مَاٰبٍ ﴿٥٥﴾

၅၅။ ဤသည်(တွင် သူတော်ကောင်းတို့၏ အကြောင်း) ပြီးဆုံးခဲ့လေပြီ။ ၎င်းပြင် ဧကန်စင်စစ် ဆိုးသွမ်းသောသူယုတ်မာ (အကြီးအကဲ)တို့အဖို့ ဆိုးရွားလှစွာသော ပြန်လည်ရာ စခန်းသည် အမှန်ပင်ရှိ၏။

جَهَنَّمَ ۚ يَصْلَوْنَهَا ۚ فَبِئْسَ الْمِهَادُ ﴿٥٦﴾

၅၆။ (ယင်းဆိုးရွားလှသော ပြန်လည်ရာစခန်းမှာ) "ဂျဟန္နမ်" ငရဲဘုံပင်ဖြစ်၏။ ၎င်းတို့သည် ယင်း "ဂျဟန္နမ်" ငရဲဘုံသို့ ဝင်ရောက်ကြရပေမည်။ စင်စစ် ယင်းအပန်းဖြေရာ စခန်းမှာ လွန်စွာဆိုးရွားလှ၏။

هٰذَا ۙ فَلْيَذُوْقُوْهُ حَمِيْمٌ وَّغَسَّاقٌ ﴿٥٧﴾

၅၇။ ဤသည် ကျိုက်ကျိုက်ဆူပွက်လျက်ရှိသော ရေပူ နှင့် ပြည်ပုပ်ဖြစ်၏။ သို့ဖြစ်ပေရာ ၎င်းတို့သည် ဤသည်ကို မြည်းစမ်းကြပါစေ။

وَّاٰخَرُ مِنْ شَكْلِهٖۤ اَزْوَاجٌ ﴿٥٨﴾

၅၈။ ထိုမှတစ်ပါး ဤသည့်အမျိုးအစားထဲမှပင် အခြားသော (မြည်းစမ်းဖွယ်ရာ) အမျိုးမျိုးလည်း ရှိချိမ့်မည်။

هَٰذَا فَوْجٌ مُّقْتَحِمٌ مَّعَكُمْ
لَا مَرْحَبًا بِهِمْ إِنَّهُمْ صَالُوا
النَّارِ ﴿٥٩﴾

၅၉။ (သူယုတ်မာ အကြီးအကဲတို့က ပြောဆိုကြသည်မှာ) ဤသည် အသင်တို့နှင့်အတူ တိုးဝင်လျက်ရှိသော(အခြား)တပ်ဖွဲ့တစ်ဖွဲ့ပင်ဖြစ်၏။ ၎င်းတို့သည် ခံမင်စွာ နှုတ်ဆက်ခြင်းနှင့် ကင်းဝေးကြစေသား၊ ဧကန်အမှန် ၎င်းတို့သည်လည်း ငရဲမီးထဲသို့ ဝင်ရောက်လျက်ရှိကြပေသည်။

قَالُوا بَلْ أَنتُمْ لَا مَرْحَبًا
بِكُمْ أَنتُمْ قَدَّمْتُمُوهُ لَنَا فَبِئْسَ
الْقَرَارُ ﴿٦٠﴾

၆၀။ ထိုအခါ နောက်လိုက်ငယ်သားတို့က "ထိုသို့အလျှင်းမဟုတ်၊ စင်စစ်မှာကား အသင်တို့သည်သာလျှင် ခံမင်စွာ နှုတ်ဆက်ခြင်းနှင့် ကင်းဝေးနေကြစေသား။ အသင်တို့သည်ပင်လျှင် ဤဒုက္ခကို ကျွန်ုပ်တို့၏ရှေ့ဝယ် ယူဆောင်ခဲ့ကြလေသည်"ဟု ပြောဆိုကြပေမည်။ စင်စစ်မှာကား ယင်းနေရာထိုင်ခင်းသည် လွန်စွာဆိုးရွားလှသော နေရာထိုင်ခင်းပင်ဖြစ်၏။

قَالُوا رَبَّنَا مَن قَدَّمَ لَنَا هَٰذَا
فَزِدْهُ عَذَابًا ضِعْفًا فِي النَّارِ ﴿٦١﴾

၆၁။ ၎င်းတို့က "အို-ကျွန်တော်မျိုးတို့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင် ကျွန်တော်မျိုးတို့ရှေ့ဝယ် ဤဒုက္ခကို ယူဆောင်ခဲ့သောသူအား အရှင်မြတ်သည် ငရဲဘုံတွင် ပြစ်ဒဏ်ကို နှစ်ဆတိုးစေတော်မူပါ" ဟု လျှောက်ထားကြပေမည်။

وَقَالُوا مَا لَنَا لَا نَرَىٰ رِجَالًا كُنَّا
نَعُدُّهُم مِّنَ الْأَشْرَارِ ﴿٦٢﴾

၆၂။ ထိုမှတစ်ပါး ၎င်းတို့သည် (ဤသို့)ပြောဆိုကြပေမည်။ ဆိုးသွမ်းသောသူတို့တွင် အပါအဝင်ဖြစ်ကြသည်ဟု ကျွန်ုပ်တို့ ရေတွက် မှတ်ယူလျက်ရှိခဲ့ကြသော ပုဂ္ဂိုလ်များ (ဝါ) (မုစ်လင်မ်တို့အားငရဲဘုံတွင်) မည်သည့်အတွက်ကြောင့် ကျွန်ုပ်တို့သည် မတွေ့မြင်ကြရသနည်း။

أَتَّخَذْنَاهُمْ سِخْرِيًّا أَمْ زَاغَتْ

၆၃။ ကျွန်ုပ်တို့သည်ပင် ၎င်းတို့အား ပြက်ချော်ပြောင်လှောင်ဖွယ်ရာများ ပြုလုပ်မိခဲ့ကြလေသလော။

عَنْهُمُ الْأَبْصَارُ ﴿٦٣﴾

သို့တည်းမဟုတ် (ကျွန်ုပ်တို့၏) မျက်စိများပင် ၎င်းတို့(အား မြင်နိုင်ခြင်း)မှ လွဲချော် တိမ်းမှောက်ကြလေသလော။

إِنَّ ذَٰلِكَ لَحَقٌّ تَخَاصُمُ أَهْلِ النَّارِ ﴿٦٤﴾

၆၄။ ဧကန်မလွဲ ("ဂျဟန္နမ်" ငရဲဘုံ၌) ငရဲသားတို့ အချင်းချင်း ထို(ကဲ့သို့) ပဋိပက္ခဖြစ်ခြင်းကား လုံးဝ အမှန်ပင် ဖြစ်ချေသတည်း။

قُلْ إِنَّمَا أَنَا مُنذِرٌ ۖ وَمَا مِنْ إِلَٰهٍ إِلَّا اللَّهُ الْوَاحِدُ الْقَهَّارُ ﴿٦٥﴾

၆၅။ (အို-နဗီတမန်တော်) အသင်သည် ပြောကြားပါလေ။ (အချင်းတို့) ငါသည် သတိပေးနှိုးဆော်သူ တစ်ဦးသာလျှင်ဖြစ်၏။ ၎င်းပြင် တစ်ဆူတည်း ဖြစ်တော်မူသော လွန်စွာ နိုင်နင်းလွှမ်းမိုးတော်မူသော အလ္လာဟ်အရှင်မြတ်မှတစ်ပါး ဆည်းကပ်ကိုးကွယ်ရာ အရှင်ဟူ၍ မရှိပေ။

رَبُّ السَّمَاوَاتِ وَالْأَرْضِ وَمَا بَيْنَهُمَا الْعَزِيزُ الْغَفَّارُ ﴿٦٦﴾

၆၆။ (ထိုအရှင်မြတ်သည်သာလျှင်) မိုးကောင်းကင်များကိုလည်းကောင်း၊ ပထဝီမြေကိုလည်းကောင်း၊ ယင်းမိုးကောင်းကင်များနှင့် ပထဝီမြေ၏အကြား၌ ရှိသမျှတို့ကိုလည်းကောင်း၊ ဖန်ဆင်းမွေးမြူတော်မူသောအရှင်၊ တန်ခိုးအာနုဘော်နှင့် ပြည့်စုံတော်မူသော အရှင်၊ အလွန်တရာ ခွင့်လွှတ်ချမ်းသာ ပေးတော်မူသောအရှင် ဖြစ်တော်မူ၏။

قُلْ هُوَ نَبَأٌ عَظِيمٌ ﴿٦٧﴾

၆၇။ (အို-နဗီတမန်တော်) အသင်သည် ပြောကြားပါလေ။ (အချင်းတို့) ("ကိယာမတ်" ရှင်ပြန်ထမြောက်မည့် နေ့၏အကြောင်းသတင်း)သည် ကြီးကျယ်လှစွာသော အကြောင်းသတင်းပင်။

أَنتُمْ عَنْهُ مُعْرِضُونَ ﴿٦٨﴾

၆၈။ အသင်တို့သည် ယင်းအကြောင်းသတင်းကို လျစ်လျူရှုနေသူများပင် ဖြစ်ကြကုန်၏။

၆၉။ ငါသည် အထက်ကောင်းကင်ရှိ ပရိသတ်နှင့် ပတ်သက်၍၊ ၎င်းတို့အချင်းချင်း ပြောဆို အငြင်း ပွားလျက်ရှိကြစဉ် မည်သည်ကိုမျှ မသိခဲ့ပေ။

مَا كَانَ لِيَ مِنْ عِلْمٍ بِالْمَلَإِ الْأَعْلَىٰ إِذْ يَخْتَصِمُونَ ﴿٦٩﴾

၇၀။ ငါ့ထံသို့ ငါသည် ထင်ရှားစွာ သတိပေး နှိုးဆော်သူတစ်ဦးဖြစ်ခြင်းကြောင့်သာလျှင် "ဝဟ်ယ်" အမိန့်တော် ထုတ်ပြန်ခြင်းခံရပေသတည်း။

إِن يُوحَىٰ إِلَيَّ إِلَّا أَنَّمَا أَنَا نَذِيرٌ مُّبِينٌ ﴿٧٠﴾

၇၁။ (ပြန်လည်အောက်မေ့ သတိရပါလေ)။ တစ်ရံရောအခါဝယ် အသင့်အား ဖန်ဆင်း မွေးမြူတော်မူသော အရှင်မြတ်သည် "မလာအိကဟ်" ကောင်းကင်တမန်တို့အား မိန့်ကြားတော်မူခဲ့၏။ ဧကန်စင်စစ် ငါအရှင်မြတ်သည် လူသားတစ်ဦးအား ရွှံ့မြေဖြင့် ဖန်ဆင်းတော်မူမည်။

إِذْ قَالَ رَبُّكَ لِلْمَلَائِكَةِ إِنِّي خَالِقٌ بَشَرًا مِّن طِينٍ ﴿٧١﴾

၇၂။ ထို့နောက် ငါအရှင်မြတ်သည် ထိုလူသားအား နေထားကျနစုံလင်စွာ ပြုလုပ်တော်မူပြီးလျှင် ၎င်း(၏ ခန္ဓာကိုယ်) အတွင်းဝယ် မိမိအထံတော်မှ အသက်ဇီဝိန် ကို မှုတ်သွင်းတော်မူခဲ့သောအခါ အသင်တို့သည် ၎င်း၏ရှေ့ဝယ် 'စဂျ်ဒဟ်' ပျပ်ဝပ်ဦးချကြလေကုန်။

فَإِذَا سَوَّيْتُهُ وَنَفَخْتُ فِيهِ مِن رُّوحِي فَقَعُوا لَهُ سَاجِدِينَ ﴿٧٢﴾

၇၃။ ဆိုခဲ့ပြီးအတိုင်း "မလာအိကဟ်" ကောင်းကင်တမန်အပေါင်းတို့သည် အားလုံးပင် "စဂျ်ဒဟ်" ပျပ်ဝပ် ဦးချကြကုန်၏။

فَسَجَدَ الْمَلَائِكَةُ كُلُّهُمْ أَجْمَعُونَ ﴿٧٣﴾

၇၄။ သို့ရာတွင် "ဣဗ်လီစ်" မှာမူကား မောက်မာ ပလွှား၍ "ကာဖိရ်" သွေဖည်ငြင်းပယ်သူတို့တွင် အပါအဝင် ဖြစ်သွားခဲ့လေ၏။

إِلَّا إِبْلِيسَ اسْتَكْبَرَ وَكَانَ مِنَ الْكَافِرِينَ ﴿٧٤﴾

၇၅။ (ထိုအခါ) ထိုအရှင်မြတ်သည် "အို-ဣဗ်လီစ်"၊ ငါအရှင် မိမိလက်တော်နှစ်ဖက်ဖြင့် ပြုလုပ်တော်မူခဲ့

قَالَ يَا إِبْلِيسُ مَا مَنَعَكَ أَن

تَسْجُدَ لِمَا خَلَقْتُ بِيَدَيَّ ۖ أَسْتَكْبَرْتَ أَمْ كُنتَ مِنَ الْعَالِينَ ﴿٧٥﴾

သောသူ၏ရှေ့ဝယ် "စဂျ်ဒဟ်" ပျပ်ဝပ်ဦးချခြင်းမှ အသင့်အား မည့်သည့်အရာက တားမြစ်ခဲ့သနည်း။ အသင်သည် မာန်မာနထောင်လွှားလေသလော၊ သို့တည်းမဟုတ် အသင်သည် (အကယ်စင်စစ်) မြင့်မြတ်သောသူတစ်ဦး ဖြစ်လေသလော" ဟု မိန့်ကြားတော်မူခဲ့၏။

قَالَ أَنَا خَيْرٌ مِّنْهُ ۖ خَلَقْتَنِي مِن نَّارٍ وَخَلَقْتَهُ مِن طِينٍ ﴿٧٦﴾

**၇၆။** ထို"ဣဗ်လီစ်"က "(အို-အရှင်မြတ်၊)ကျွန်တော်မျိုးသည် ထိုလူသားထက် မြင့်မြတ်ပါသည်။ အရှင်မြတ်သည် ကျွန်တော်မျိုးအား မီးဖြင့် ဖန်ဆင်းတော်မူ၍ ထိုလူသားကိုမူကား ရွှံ့မြေဖြင့် ဖန်ဆင်းတော်မူခဲ့ပါသည်"ဟု လျှောက်ထားခဲ့လေသည်။

قَالَ فَاخْرُجْ مِنْهَا فَإِنَّكَ رَجِيمٌ ﴿٧٧﴾

**၇၇။** ထိုအရှင်မြတ်က မိန့်ကြားတော်မူခဲ့၏။ သို့ဖြစ်လျှင် (အို-"ဣဗ်လီစ်"၊) အသင်သည် ဤကောင်းကင်ဘုံမှ ထွက်၍သွားလော့၊ အကြောင်းမူကား အသင်သည် နှင်ထုတ်ခြင်း-ကရုဏာတော်မှကင်းဝေးစေခြင်းခံရသူ ဖြစ်သောကြောင့်ပင်။

وَإِنَّ عَلَيْكَ لَعْنَتِي إِلَىٰ يَوْمِ الدِّينِ ﴿٧٨﴾

**၇၈။** ထိုမှတစ်ပါး ဧကန်မလွဲ အသင့်အပေါ်၌ ငါအရှင်မြတ်၏ စက်ဆုပ်မှုသည် အစားပေးမည့်နေ့တိုင်အောင်ပင် ရှိနေပေမည်။

قَالَ رَبِّ فَأَنظِرْنِي إِلَىٰ يَوْمِ يُبْعَثُونَ ﴿٧٩﴾

**၇၉။** ထို "ဣဗ်လီစ်" က "အို-ကျွန်တော်မျိုးအား ဖန်ဆင်းမွေးမြူတော်မူသောအရှင်၊ သို့ဖြစ်ပါလျှင် အရှင်မြတ်သည် ကျွန်တော်မျိုးအား (လူသတ္တဝါအပေါင်း) ရှင်ပြန်ထစေခြင်း ခံကြရမည့်နေ့တိုင်အောင် (သေခြင်းမှ-ပြစ်ဒဏ်စီရင်တော်မူခြင်းမှ) ရွှေ့ဆိုင်း၍ထားတော်မူပါ" ဟု လျှောက်ထားခဲ့လေ၏။

قَالَ فَإِنَّكَ مِنَ الْمُنْظَرِينَ ۝٨٠

၈၀။ ထိုအရှင်မြတ်သည် မိန့်ကြားတော်မူခဲ့၏။ သို့ဆိုလျှင် ဧကန်မလွဲ အသင်သည် ရွှေ့ဆိုင်းထားခြင်းခံရသူတစ်ဦးပင်ဖြစ်၏။

إِلَىٰ يَوْمِ الْوَقْتِ الْمَعْلُومِ ۝٨١

၈၁။ သတ်မှတ်ပြဋ္ဌာန်းပြီးဖြစ်သော အချိန်ကာလ (ဆိုက်ရောက်အံ့သော) နေ့တိုင်အောင်။

قَالَ فَبِعِزَّتِكَ لَأُغْوِيَنَّهُمْ أَجْمَعِينَ ۝٨٢

၈၂။ (ထိုအခါ) ထို"ဣဗ်လီစ်"က လျှောက်ထားခဲ့လေ၏။ သို့ဖြစ်ပါလျှင် (ကျွန်တော်မျိုးသည်) အရှင်မြတ်၏ တန်ခိုးအာနုဘော်ကို တိုင်တည်(၍ လျှောက်ထား)အပ်ပါသည်။ မုချမလွဲ ကျွန်တော်မျိုးသည် ထိုလူသားအားလုံးကိုပင် လွဲချော် မှောက်မှားအောင် ပြုလုပ်မည်ဖြစ်ပါသည်။

إِلَّا عِبَادَكَ مِنْهُمُ الْمُخْلَصِينَ ۝٨٣

၈၃။ သို့ရာတွင် ၎င်းတို့အနက် ရွေးချယ်ပြီးဖြစ်သောအရှင်မြတ်၏ ကျွန်များကိုမူကား (ကျွန်တော်မျိုးသည် လွဲချော် မှောက်မှားစေနိုင်မည်မဟုတ်ပါ)။

قَالَ فَالْحَقُّ وَالْحَقَّ أَقُولُ ۝٨٤

၈၄။ ထိုအရှင်မြတ်သည် မိန့်ကြားတော်မူခဲ့၏။ ငါအရှင်မြတ် အမှန်ကို မိန့်ကြားတော်မူမည်။ စင်စစ် ငါအရှင်သည် အမှန်ကိုသာ ပြောကြားတော်မူလေ့ရှိသည်။

لَأَمْلَأَنَّ جَهَنَّمَ مِنْكَ وَمِمَّنْ تَبِعَكَ مِنْهُمْ أَجْمَعِينَ ۝٨٥

၈၅။ ဧကန်မလွဲ ငါအရှင်မြတ်သည် အသင်အားဖြင့်လည်းကောင်း၊ ထိုလူသားတို့အနက် အသင်၏နောက်လိုက်ကြသောသူတို့အားဖြင့်လည်းကောင်း၊ "ဂျဟန္နမ်" ငရဲဘုံကို ဖြည့်တော်မူအံ့သတည်း။

قُلْ مَا أَسْأَلُكُمْ عَلَيْهِ مِنْ

၈၆။ (အို-နဗီတမန်တော်)၊ အသင်သည် ပြောကြားပါလေ။ (အချင်းတို့) ငါသည် အသင်တို့ထံ ဤ (ကုရ်အာန်ကျမ်းတော်မြတ်)နှင့်စပ်လျဉ်း၍ မည်သည့်

أَجْرٍ وَمَآ أَنَا۠ مِنَ الْمُتَكَلِّفِينَ ٨٦

အကျိုးကိုမျှ တောင်းဆိုသည်မဟုတ်ပေ။ ထိုမှတစ်ပါး ငါသည် ဟန်ဆောင်ပြောဆိုသူ (ဤကုရ်အာန်ကျမ်းတော်မြတ်ကို) ကြံဖန် စီကုံးသူတစ်ဦးလည်းမဟုတ်ပေ။

إِنْ هُوَ إِلَّا ذِكْرٌ لِّلْعَٰلَمِينَ ٨٧

၈၇။ (စင်စစ်) ထို(ကုရ်အာန်ကျမ်းတော်မြတ်)သည် ကမ္ဘာသူ ကမ္ဘာသားခပ်သိမ်းတို့အဖို့ ဆုံးမသြဝါဒ တစ်ပါးသာလျှင်ဖြစ်၏။

وَلَتَعْلَمُنَّ نَبَأَهُۥ بَعْدَ حِينٍۭ ٨٨

၈၈။ ထိုမှတစ်ပါး မုချဧကန် အသင်တို့သည် အနည်းငယ်သော အချိန်ကာလနောက်တွင် ယင်း (ကုရ်အာန်ကျမ်းတော်မြတ်)၏ အကြောင်းသတင်း မှန်ကန်ကြောင်းကို သိရှိကြကုန်အံ့သတည်း။ [၁]

---

(၁) **နိဂုံးချုပ်၊**

ဤအာယတ်တော်၏ အလိုသဘောမှာ ကျွန်ုပ်သည် အသင်တို့အား အသင်တို့အကျိုးငှာ ကုရ်အာန်ကျမ်းလာ ဒေသနာတော်များကို တင်ပြနေခြင်းဖြစ်သည်။ သို့ တင်ပြသည့်အတွက် ကျွန်ုပ်သည်အသင်တို့ထံမှ တစ်စုံတစ်ရာ အဘိုးအခ၊ တောင်းဆိုသည်မရှိ။ ဤကုရ်အာန်ကျမ်းမြတ်မှာ အလ္လာဟ်အရှင်မြတ်၏ အာယတ်တော်များသာဖြစ်သည်။ ကျွန်ုပ်ကြံဖန်စီကုံး ထားသည်မဟုတ်၊ ကြံဖန်စီကုံး နိုင်သည်လည်းမဟုတ် ကြံဖန်စီကုံးရန် အကြောင်းလည်းမရှိ။ ကုရ်အာန်ကျမ်းမြတ်သည် ကမ္ဘာသူ၊ကမ္ဘာသား အားလုံးတို့အဖို့ အဆုံးအမသြဝါဒ တစ်ပါးသာဖြစ်သည်။ ကျွန်ုပ်သည် တာဝန်အရ ကုရ်အာန်ကျမ်းလာ ဒေသနာတော်များကို အသင်တို့အား စ၊လယ်၊ဆုံး သုံးပါးစလုံး တိကျမှန်ကန်စွာ ဟောကြားပြီးပြီ။ ဟောကြားရန်မှာ မိမိ၏တာဝန်။ လက်ခံနာယူ ကျင့်မူခြင်းမှာ အသင်တို့၏ တာဝန်။ ကုရ်အာန်ကျမ်း၏ ဟောကိန်းများသည် အဘယ်မျှမှန်ကန်သည်၊ ကုရ်အာန်ကျမ်းလာ ဒေသနာတော်များသည် အဘယ်မျှ အကျိုးသက်ရောက်သည်ကို အသင်တို့ကိုယ်တိုင် မကြာမီ သိကြရတော့မည်။ ဤကား နိဂုံးချုပ်တည်း။

## အုပ်စုများကဏ္ဍ

سُوْرَةُ الزُّمَرِ

ဤကဏ္ဍသည် "ဇူမရ်"- အုပ်စုများကဏ္ဍမည်၏။ မက္ကာမြို့တော်၌ ကျရောက်ခဲ့၏။
ဤကဏ္ဍတွင် အာယတ်တော်(၇၅)ပါး၊ ရုကူအ်အပိုဒ်(၈)ပိုဒ် အသီးသီးပါရှိ၏။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ

အနန္တကရုဏာရှင် ဖြစ်တော်မူသော
မပြတ်မစဲသနားကြင်နာ ညှာတာတော်မူသော
အလ္လာဟ်အရှင်မြတ်၏ နာမံတော်ဖြင့် အစပြုပါ၏။

تَنْزِيْلُ الْكِتٰبِ مِنَ اللّٰهِ الْعَزِيْزِ الْحَكِيْمِ ①

၁။ ဤသည် တန်ခိုးအာနုဘော်ဖြင့် လွှမ်းမိုးတော်မူသော၊ ဆင်ခြင်တုံတရားနှင့် ပြည့်စုံတော်မူသော အလ္လာဟ်အရှင်မြတ်အထံတော်မှ ချပေးသနားတော်မူသော (ကုရ်အာန်) ကျမ်းတော်မြတ်ပင်။ [၁]

اِنَّآ اَنْزَلْنَآ اِلَيْكَ الْكِتٰبَ بِالْحَقِّ فَاعْبُدِ اللّٰهَ مُخْلِصًا لَّهُ الدِّيْنَ ②

၂။ ဧကန်မလွဲ ငါအရှင်မြတ်သည် အသင့်ထံသို့ ဤ(ကုရ်အာန်)ကျမ်းတော်မြတ်ကို တိကျမှန်ကန်စွာ ချပေးသနားတော်မူခဲ့ရာ၊ အသင်သည် အလ္လာဟ်အရှင်မြတ်အားသာလျှင် ဆည်းကပ်ကိုးကွယ်မှုကို သက်သက် ထိုအရှင်အတွက် သဒ္ဓါဖြူစင်စေလျက် ဆည်းကပ်ကိုးကွယ်ပါလေ။ [၂]

---

(၁) ဤအာယတ်တော်တွင် အလ္လာဟ်အရှင်မြတ်သည် (အလ်အဇီဇ်) တန်ခိုးအာနုဘော်ဖြင့် လွှမ်းမိုးတော်မူသောအရှင်၊ (အလ်ဟကီမ်) ဆင်ခြင်တုံတရားနှင့် ပြည့်စုံတော်မူသောအရှင်ဟူ၍ ဂုဏ်တော်နှစ်ပါးကို အထူးတလည် ထုတ်ဖော် သုံးနှုန်းထားတော်မူသည်။ ဆိုလိုသည်ကား အလ္လာဟ်အရှင်မြတ်သည် တန်ခိုးအာနုဘော်ဖြင့် လွှမ်းမိုးတော်မူသောအရှင် ဖြစ်တော်မူပေရာ၊ ထိုအရှင်မြတ်၏ ကျမ်းဂန်လာ ဒေသနာတော်များသည် ကမ္ဘာအဝှန်းသို့ ပျံ့နှံ့အတည်ဖြစ်မည်။ မည်သူမျှ ပိတ်ပင် တားဆီးနိုင်မည်မဟုတ်ဟူ၏။ ထိုအရှင်မြတ်သည် ဆင်ခြင်တုံတရားနှင့် ပြည့်စုံတော်မူသောအရှင် ဖြစ်တော်မူပေရာ၊ ထိုအရှင်မြတ်၏ ကျမ်းဂန်လာ ဒေသနာတော်များကို မည်သည့်ကျမ်းကမျှ ယှဉ်ပြိုင်နိုင်မည်မဟုတ်ဟူ၏။

(၂) အလ္လာဟ်အရှင်မြတ်အား ဆည်းကပ်ကိုးကွယ်ရာတွင်၊ (ရှရစ်က်) ယှဉ်တွဲကိုးကွယ်မှု၊ (ရိယာ) ပြစားမှု၊ ဟန်ဆောင်မှု၊ အလျှင်းမရှိစေရ။ ထိုအရှင်မြတ်သည် မိမိအား မိမိအတွက် ပရိယာယ်မဖက်၊ယှဉ်တွဲမှုမပါ၊ ဟန်ဆောင်မှုမပါ၊စိတ်စေတနာ ဖြူစင်စွာဖြင့် ဆည်းကပ်ကိုးကွယ်သူ၏ ကိုးကွယ်မှုကိုသာ လက်ခံတော်မူသည်။ စေတနာမဖြူစင်သော ကိုးကွယ်မှုသည် ထိုအရှင်မြတ်ထံတော်၌ အသို့မျှ အချိန်မစီးပေ။

٣။ သတိပြုကြလေကုန်။ သန့်သန့်ဖြစ်သော ဆည်းကပ် ကိုးကွယ်မှုသည် အလ္လာဟ်အရှင်မြတ်နှင့်သာ သက်ဆိုင်၏။ သို့ရာတွင် အကြင်သူတို့သည် ထိုအရှင်မြတ်အပြင် အခြား ကာကွယ်စောင့်ရှောက်သူများ ပြုလုပ်ခဲ့ကြပြီးလျှင် ၎င်းတို့သည် ကျွန်ုပ်တို့အား အလ္လာဟ်အရှင်မြတ်ထံတော်ပါးသို့ နီးကပ်စေကြရန်သာလျှင် ကျွန်ုပ်တို့သည် ၎င်းတို့အား ဆည်းကပ်ကိုးကွယ်ကြသည်(ဟု ဆိုကြကုန်၏)။ [၁]

ဧကန်စင်စစ် အလ္လာဟ်အရှင်မြတ်သည် (ကိယာမတ်နေ့တွင်) ၎င်းတို့အချင်းချင်း သဘောကွဲလွဲ ငြင်းခုံလျက်ရှိကြသော အရေးကိစ္စနှင့်စပ်လျဉ်း၍ ၎င်းတို့အကြားဝယ် စီရင် ဆုံးဖြတ်တော်မူပေမည်။ စင်စစ်ဧကန် အလ္လာဟ်အရှင်မြတ်သည် မုသာဝါဒီဖြစ်သူ လွန်စွာ ကျေးဇူးကန်းသူအား တရားလမ်းမှန်သို့ ပို့ပေးတော်မူမည် မဟုတ်ပေ။

أَلَا لِلَّهِ الدِّينُ الْخَالِصُ ۚ وَالَّذِينَ اتَّخَذُوا مِن دُونِهِ أَوْلِيَاءَ مَا نَعْبُدُهُمْ إِلَّا لِيُقَرِّبُونَا إِلَى اللَّهِ زُلْفَىٰ إِنَّ اللَّهَ يَحْكُمُ بَيْنَهُمْ فِي مَا هُمْ فِيهِ يَخْتَلِفُونَ ۗ إِنَّ اللَّهَ لَا يَهْدِي مَنْ هُوَ كَاذِبٌ كَفَّارٌ ﴿٣﴾

---

(၁) မုရှ်ရစ်က်များက ကျွန်ုပ်တို့သည် အလ္လာဟ်အရှင်မြတ်အပြင် ကာကွယ်စောင့်ရှောက်သူများအဖြစ် ပြုလုပ်ခြင်းမှာ၊ ကျွန်ုပ်တို့အား အလ္လာဟ်အရှင်မြတ် ထံတော်ပါးသို့ နီးကပ်စေရန်သာ ဖြစ်ပါသည်ဟု ပြောဆိုခဲ့ကြသည်။ ဤသည် အဓိပ္ပာယ်မရှိသော ဆင်ခြေလဲမှုသာဖြစ်သည်။ ခေတ်ဟောင်း မုရှ်ရစ်က်များကဲ့သို့ ခေတ်သစ် မုရှ်ရစ်က်များသည်လည်း ဤနည်းနှင်နှင် အကြောင်းပြလျက် ရှိကြပေသည်။

ယခုခေတ် အချို့မှစ်လင်မ်များသည် လည်း ဝလီ၊အောင်လိယာ၊ သူတော်စင်များအား အကြည်ညိုလွန်ကာ ယင်းသူတော်စင်များသည် စားနပ်ရိက္ခာ ပြေလည်မှု၊ ရောဂါပျောက်ကင်းမှု၊ အမှုအခင်းနိုင်မှု စသည်တို့တွင် အရေးပါ အရာရောက်ကြသည်၊ စွမ်းဆောင် နိုင်ကြသည်ဟူ၍ ထင်မှတ်နေကြသည်။ မင်္ဂိုင်းစကောင်း လူ့လောကတွင် နိုင်ငံတော်သမ္မတထံ ချဉ်းကပ်လိုက၊ သက်ဆိုင်ရာ အတွင်းဝန်များမှတစ်ဆင့် ချဉ်းကပ်ရသကဲ့သို့ အလ္လာဟ်အရှင်မြတ် ထံတော်ပါးသို့ သက်ဆိုင်ရာ ဝလီ၊ အောင်လိယာ၊ သူတော်စင်ကြီးများမှတစ်ဆင့် ချဉ်းကပ်နေကြသည်။ ဤသည် ရှရစ်က်ပင်။

ကြည့်-မာဂျိဒီ။

၄။ အကယ်၍သာ အလ္လာဟ်အရှင်မြတ်သည် သားတော်တစ်ပါးပါး ရွေးချယ်ပြုလုပ်တော်မူရန် ရည်စူးတော်မူခဲ့ပါလျှင်၊ အမှန်ပင် ထိုအရှင်မြတ်သည် မိမိဖန်ဆင်းတော်မူခဲ့သော အဖန်ဆင်းခံတို့အနက်မှ မိမိအလိုရှိတော်မူသောသူအား ရွေးချယ်တော်မူခဲ့မည်သာ။ ထိုအရှင်မြတ်သည် (သားသမီးအလိုရှိခြင်းမှ) သန့်ရှင်းစင်ကြယ်တော်မူ၏။ ထိုအရှင်မြတ်သည် သာလျှင် တစ်ဆူတည်းသော၊ လွန်စွာ နိုင်နင်းလွှမ်းမိုးတော်မူသောအရှင် ဖြစ်တော်မူပေသတည်း။

لَوْ أَرَادَ اللَّهُ أَن يَتَّخِذَ وَلَدًا لَّاصْطَفَىٰ مِمَّا يَخْلُقُ مَا يَشَاءُ ۚ سُبْحَانَهُ ۖ هُوَ اللَّهُ الْوَاحِدُ الْقَهَّارُ ﴿٤﴾

၅။ ထိုအရှင်မြတ်သည် မိုးကောင်းကင်များကိုလည်းကောင်း၊ ပထဝီမြေကိုလည်းကောင်း၊ ကျိုးနွံကြောင်းကျိုး ညီညွတ်စွာ ဖန်ဆင်းတော်မူခဲ့၏။ ထိုအရှင်မြတ်သည် ညဉ့်ကို နေ့၏အပေါ်၌ ဖုံးအုပ်လွှမ်းခြုံတော်မူ၏။ ထို့နည်းတူစွာ နေ့ကို ညဉ့်၏အပေါ်၌ ဖုံးအုပ်လွှမ်းခြုံတော်မူ၏။ ထိုမှတစ်ပါး ထိုအရှင်မြတ်သည် နေကိုလည်းကောင်း၊ လကိုလည်းကောင်း၊ မလွဲမရှောင်သာ အမိန့်တော်ကို လိုက်နာစေတော်မူခဲ့ရာ (ယင်းနေသည်လည်းကောင်း၊ လသည်လည်းကောင်း၊) သတ်မှတ်ပြီးဖြစ်သောအချိန်ကာလတိုင်အောင် အသီးသီး လှုပ်ရှားသွားလာလျက်ပင် ရှိကြပေမည်။ သတိပြုကြလေကုန်၊ ထိုအရှင်မြတ်သည် နိုင်နင်းလွှမ်းမိုးတော်မူသော အရှင်၊ အလွန်တရာ ခွင့်လွှတ်ချမ်းသာ ပေးသနားတော်မူသော အရှင် ဖြစ်တော်မူ၏။

خَلَقَ السَّمَاوَاتِ وَالْأَرْضَ بِالْحَقِّ ۖ يُكَوِّرُ اللَّيْلَ عَلَى النَّهَارِ وَيُكَوِّرُ النَّهَارَ عَلَى اللَّيْلِ ۖ وَسَخَّرَ الشَّمْسَ وَالْقَمَرَ ۖ كُلٌّ يَجْرِي لِأَجَلٍ مُّسَمًّى ۗ أَلَا هُوَ الْعَزِيزُ الْغَفَّارُ ﴿٥﴾

၆။ ထိုအရှင်မြတ်သည် အသင်တို့အား အသက်တစ်ချောင်းတည်းမှ ဖန်ဆင်းတော်မူခဲ့၏။ ထို့နောက် ထိုအရှင်မြတ်သည် ယင်း(တစ်ခုတည်းသော) အသက်ဇီဝိန်မှပင် ၎င်း၏ကြင်ရာကြင်ဖက်ကို ဖန်ဆင်းတော်

خَلَقَكُم مِّن نَّفْسٍ وَاحِدَةٍ ثُمَّ جَعَلَ مِنْهَا زَوْجَهَا وَأَنزَلَ

لَكُم مِّنَ الْأَنْعَامِ ثَمَانِيَةَ أَزْوَاجٍ ۚ يَخْلُقُكُمْ فِي بُطُونِ أُمَّهَاتِكُمْ خَلْقًا مِّن بَعْدِ خَلْقٍ فِي ظُلُمَاتٍ ثَلَاثٍ ۚ ذَٰلِكُمُ اللَّهُ رَبُّكُمْ لَهُ الْمُلْكُ ۖ لَا إِلَٰهَ إِلَّا هُوَ ۖ فَأَنَّىٰ تُصْرَفُونَ ﴿٦﴾

မူခဲ့၏။ ထိုမှတစ်ပါး ထိုအရှင်မြတ်သည် အသင်တို့ အကျိုးငှာ ခြေလေးချောင်းတိရစ္ဆာန်များမှ (အထီးအမ စုံတွဲ) ရှစ်မျိုးကို ချပေးတော်မူခဲ့၏။

ထိုအရှင်မြတ်သည် အသင်တို့အား *အသင်တို့၏ မိခင်များ၏ဝမ်းဗိုက်တွင်* [၁] *အမိုက်မှောင်သုံးထပ်အတွင်းဝယ်* [၂] ဖန်ဆင်းမှု တစ်မျိုးပြီး တစ်မျိုးသို့ (ပြောင်းလွဲ၍) ဖန်ဆင်းတော်မူ၏။ ထို(အရှင်မြတ်)သည်ပင် အသင်တို့အား ဖန်ဆင်းမွေးမြူတော်မူသော အလ္လာဟ်အရှင်မြတ် ဖြစ်တော်မူ၏။ စိုးမိုးအုပ်ချုပ်မှုသည် ထိုအရှင်မြတ်၌သာရှိ၏။ ထိုအရှင်မြတ်မှတစ်ပါး ခဝပ်ကိုးကွယ်ရာအရှင်ဟူ၍ အလျှင်းမရှိပြီ။ သို့ပါလျက် အသင်တို့သည် အဘယ်သို့ ပြန်လှည့်သွားကြကုန်သနည်း။

إِن تَكْفُرُوا فَإِنَّ اللَّهَ غَنِيٌّ عَنكُمْ ۖ وَلَا يَرْضَىٰ لِعِبَادِهِ الْكُفْرَ ۖ وَإِن تَشْكُرُوا يَرْضَهُ لَكُمْ ۗ

၇။ အကယ်၍ အသင်တို့သည် သွေဖည်ငြင်းပယ်ကြလျှင် ကေန်မလွဲ အလ္လာဟ်အရှင်မြတ်သည် အသင်တို့အား လိုလားတောင်းတခြင်း၊ မှီခိုအားထားခြင်း ကင်းရှင်းတော်မူသောအရှင် ဖြစ်တော်မူ၏။ စင်စစ် ထိုအရှင်မြတ်သည် မိမိကျွန်များနှင့်ပတ်သက်၍ သွေဖည်ငြင်းပယ်မှုကို နှစ်မြို့တော်မူသည် မဟုတ်ပေ။ သို့ရာတွင် အကယ်၍ အသင်တို့သည် ကျေးဇူးသိတတ်ကြလျှင် အသင်တို့နှင့်ပတ်သက်၍ ယင်းကျေးဇူးသိတတ်ခြင်းကို နှစ်သက်တော်မူ၏။

---

(၁) အလ္လာဟ်အရှင်မြတ်သည် လူသားအား အမိဝမ်းဗိုက်တွင် တဖြည်းဖြည်း အဆင့်ဆင့်၊ ဖန်ဆင်းမှုအမျိုးမျိုးပြောင်းလွဲ၍ အံ့ဖွယ်သရဲ ဖန်ဆင်းထားတော်မူသည်။ ဥပမာ-သုက်ရည်မှသွေးခဲ၊ သွေးခဲမှအသားတုံး၊ ထို့နောက်အရိုး၊ ထို့နောက်အသား၊ ထို့နောက် အသက်ဇီဝိန်ကို ဖန်ဆင်းတော်မူသည်။ ကြည့်-အွတ်ဆ်မာနီ။

(၂) အမှောင်သုံးထပ်ဟူသည် (၁)အမိ၏ဝမ်းဗိုက် (၂) သားအိမ် (၃) သားငယ်ကို ရစ်ပတ်လွှမ်းခြုံထားသည့် အမြှေးပါးကို ဆိုလိုသည်။

وَلَا تَزِرُ وَازِرَةٌ وِّزْرَ أُخْرَىٰ ۗ ثُمَّ إِلَىٰ رَبِّكُم مَّرْجِعُكُمْ فَيُنَبِّئُكُم بِمَا كُنتُمْ تَعْمَلُونَ ۚ إِنَّهُ عَلِيمٌ بِذَاتِ الصُّدُورِ ⑦

စင်စစ်သော်ကား မည်သည့် ဝန်ထမ်း တစ်ဦး တစ်ယောက်မျှပင် သူတစ်ပါး၏ဝန်ထုပ်ကို ထမ်းဆောင်မည်မဟုတ်ပေ။ ထို့နောက် အသင်တို့သည် မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်အထံသို့ပင် ပြန်လည်သွားကြရပေမည်။ ထိုအခါ အရှင်မြတ်သည် အသင်တို့ ကျင့်မူလျက် ရှိခဲ့သမျှသောကိစ္စများကို အသင်တို့အား ထုတ်ဖော် ပြသတော်မူပေမည်။ ဧကန်မလွဲ ထိုအရှင်မြတ်သည် စိတ်နှလုံးများအတွင်း၌ ရှိသမျှတို့ကို အကြွင်းမဲ့ သိတော်မူသောအရှင်မြတ်ပင် ဖြစ်တော်မူ၏။

وَإِذَا مَسَّ الْإِنسَانَ ضُرٌّ دَعَا رَبَّهُ مُنِيبًا إِلَيْهِ ثُمَّ إِذَا خَوَّلَهُ نِعْمَةً مِّنْهُ نَسِيَ مَا كَانَ يَدْعُو إِلَيْهِ مِن قَبْلُ وَجَعَلَ لِلَّهِ أَندَادًا لِّيُضِلَّ عَن سَبِيلِهِ ۚ قُلْ تَمَتَّعْ بِكُفْرِكَ قَلِيلًا ۖ إِنَّكَ مِنْ أَصْحَابِ النَّارِ ⑧

၈။ စင်စစ်သော်ကား (မုရှ်ရစ်က်)လူသား၌ ဘေးအန္တရာယ် တစ်စုံတစ်ရာ ဆိုက်ရောက်ခဲ့သောအခါ ထိုလူသားမှာ ၎င်းဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်ဘက်သို့ စိတ်ရောကိုယ်လှည့်၍ ထိုအရှင်မြတ်အား ဟာစ်ခေါ်(တသ)လေ၏။ ထို့နောက် ၎င်းအား ထိုအရှင်မြတ်သည် မိမိအထံတော်မှ ကျေးဇူးတော်တစ်စုံတစ်ရာကို ချီးမြှင့်တော်မူသောအခါ ၎င်းမှာ ယခင်က ထိုအရှင်မြတ်အား မိမိဟာစ်ခေါ် (တသ)လျက် ရှိခဲ့သည်ကို မေ့လျော့သွား၏။ ထိုမှတစ်ပါး၊ ၎င်းသည် (သူတစ်ပါးတို့အား) ထိုအရှင်မြတ်၏လမ်းတော်မှလွဲချော်တိမ်းပါးစေရန် ထိုအရှင်မြတ်၌ ဂုဏ်ရည်တူများကို ပြုလုပ်သတ်မှတ်လေ၏။

(အို-နဗီတမန်တော်) အသင်သည် (ထိုလူသားအား ဤသို့)ပြောကြားပါလေ။ "အသင်သည် မိမိ၏ သွေဖည်မှုဖြင့် (နေ့ရက်)အနည်းငယ်မျှ အကျိုးကျေးဇူး ခံစားလေလော့၊ ဧကန်မလွဲ အသင်သည် ငရဲသားတို့တွင် အပါအဝင် ဖြစ်ပေသတည်း။

أَمَّنْ هُوَ قَانِتٌ آنَاءَ اللَّيْلِ
سَاجِدًا وَقَائِمًا يَحْذَرُ الْآخِرَةَ
وَيَرْجُو رَحْمَةَ رَبِّهِ ۗ قُلْ هَلْ
يَسْتَوِي الَّذِينَ يَعْلَمُونَ
وَالَّذِينَ لَا يَعْلَمُونَ ۗ إِنَّمَا
يَتَذَكَّرُ أُولُو الْأَلْبَابِ ٩

၉။ အကြင်သူသည် ညဥ့်ဦးယံများတွင် "စဂျ်ဒဟ်" ပျပ်ဝပ်ဦးချလျက်လည်းကောင်း၊ မတ်တတ်ရပ်လျက်လည်းကောင်း၊ ဝတ်ပြုလျက်ရှိကြ၏။ "အာခိရတ်" တမလွန်ဘဝကို(လည်း) ကြောက်ရွံ့စိုးရိမ်လေ၏။ မိမိအရှင်မြတ်၏ ကရုဏာတော်ကိုလည်း မျှော်လင့်၏။ (ထိုသူသည် အထက်တွင်ဖော်ပြခဲ့သော မုရှ်ရိက်နှင့် တူပါသလော)။ (အို-နဗီတမန်တော်၊) (အသင် ပြောကြားပါလေ။) (အချင်းတို့၊) အသိအလိမ္မာ ဉာဏ်ပညာရှိသောသူတို့နှင့် အသိအလိမ္မာ ဉာဏ်ပညာကင်းမဲ့သောသူတို့သည် တူကြပါသလော။ (စင်စစ်မှာကား) ဉာဏ်ရှင်များသာလျှင် တရားရယူကြပေသတည်း။

قُلْ يَا عِبَادِ الَّذِينَ آمَنُوا
اتَّقُوا رَبَّكُمْ ۚ لِلَّذِينَ أَحْسَنُوا
فِي هَٰذِهِ الدُّنْيَا حَسَنَةٌ ۗ
وَأَرْضُ اللَّهِ وَاسِعَةٌ ۗ إِنَّمَا
يُوَفَّى الصَّابِرُونَ أَجْرَهُمْ
بِغَيْرِ حِسَابٍ ١٠

၁၀။ (အို-နဗီတမန်တော်၊) အသင်သည် (တစ်ဆင့်) ပြောကြားပါလေ။ အို-ငါအရှင်မြတ်၏ သက်ဝင်ယုံကြည်သူ ကျွန်အပေါင်းတို့၊ အသင်တို့သည် မိမိတို့ကို ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်အား ကြောက်ရွံ့ကြလေကုန်။ ဤမျက်မှောက်လောကီဘဝတွင် မကောင်းမှုပြုလုပ်ခဲ့ကြသော သူတို့အဖို့ ကောင်းမြတ်သော အကျိုးရှိ၏။ ထို့ပြင် အလ္လာဟ်အရှင်မြတ်၏ ပထဝီမြေသည်လည်း ကျယ်ဝန်းလှ၏။ စွဲမြဲကြံ့ခိုင်စွာ ရှိကြသော သူတို့သည်သာလျှင် မိမိတို့၏အကျိုးကို အသင်္ချေ အသင်္ချာ ပေးဆပ်ခြင်းခံကြရပေမည်။

قُلْ إِنِّي أُمِرْتُ أَنْ أَعْبُدَ اللَّهَ
مُخْلِصًا لَهُ الدِّينَ ١١

၁၁။ (အို-နဗီတမန်တော်၊) အသင်ပြောကြားပါလေ၊ ဧကန်စင်စစ် ကျွန်ုပ်သည် သက်သက် အလ္လာဟ်အရှင်မြတ်အဖို့သာလျှင် ဆည်းကပ်ကိုးကွယ်မှုကို သဒ္ဓါဖြူစင်စေလျက် ထိုအရှင်မြတ်အား ဆည်းကပ်ကိုးကွယ်ရန် အမိန့်ပေးတော်မူခြင်း ခံရသည်။

وَأُمِرْتُ لِأَنْ أَكُونَ أَوَّلَ الْمُسْلِمِينَ ⑫

၁၂။ ထိုမှတစ်ပါး ကျွန်ုပ်သည် အဦးဆုံး မုစ်လင်မ် ဖြစ်ရန်လည်း အမိန့်ပေးတော်မူခြင်း ခံရသည်။

قُلْ إِنِّي أَخَافُ إِنْ عَصَيْتُ رَبِّي عَذَابَ يَوْمٍ عَظِيمٍ ⑬

၁၃။ (အို–နဗီတမန်တော်) အသင်သည် ပြောကြားပါလေ။ (အချင်းတို့) အကယ်၍ ငါသည် ငါ့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၏ အမိန့်တော်ကို ဖီဆန်ခဲ့သည်ရှိသော်၊ အမှန်ပင် ငါသည် ကြီးကျယ်လှသော ("ကိယာမတ်" ရှင်ပြန်ထမည့်)နေ့၏ ပြစ်ဒဏ်ကို ကြောက်ရွံ့စိုးရိမ်သည်။

قُلِ اللَّهَ أَعْبُدُ مُخْلِصًا لَهُ دِينِي ⑭

၁၄။ (အို–နဗီတမန်တော်)၊ အသင်သည် ပြောကြားပါလေ။ (အချင်းတို့) ငါသည် အလ္လာဟ်အရှင်မြတ်အား သာလျှင် မိမိဆည်းကပ်ကိုးကွယ်မှုကို သက်သက် ထိုအရှင်မြတ်အဖို့ စေတနာ ဖြူစင်စွာ ဆည်းကပ်ကိုးကွယ်သည်။

فَاعْبُدُوا مَا شِئْتُمْ مِنْ دُونِهِ ۗ قُلْ إِنَّ الْخَاسِرِينَ الَّذِينَ خَسِرُوا أَنْفُسَهُمْ وَأَهْلِيهِمْ يَوْمَ الْقِيَامَةِ ۗ أَلَا ذَٰلِكَ هُوَ الْخُسْرَانُ الْمُبِينُ ⑮

၁၅။ သို့ဖြစ်ပေရာ အသင်တို့သည် ထိုအရှင်မြတ်အား စွန့်လွှတ်၍ မိမိတို့အလိုရှိရာကို ဆည်းကပ်ကိုးကွယ်ကြလေကုန်။ စေန်မလွဲ မိမိတို့ကိုယ်တိုင်နှင့် ပတ်သက်၍လည်းကောင်း၊ (မိမိတို့အိမ်သူအိမ်သားများနှင့် ပတ်သက်၍လည်းကောင်း၊) "ကိယာမတ်" ရှင်ပြန်ထမည့်နေ့တွင် ဆုံးရှုံးကြသော သူတို့သည် သာလျှင် (လုံး၀) ဆုံးရှုံးသူများ ဖြစ်ကြကုန်၏။ သတိပြုကြလေကုန်။ ဤသည်သာလျှင် ထင်ရှားလှစွာသော ဆုံးရှုံးမှုပင်။

لَهُمْ مِنْ فَوْقِهِمْ ظُلَلٌ مِنَ النَّارِ وَمِنْ تَحْتِهِمْ ظُلَلٌ ۚ

၁၆။ ၎င်းတို့သည် ၎င်းတို့၏အထက်တွင်လည်း မီးဖြင့်ပြီးသော အမိုးများရှိကြပေမည်။ ၎င်းတို့၏ အောက်တွင်လည်း (မီးဖြင့်ပြီးသော) အခင်းများရှိကြပေမည်။

ذٰلِكَ يُخَوِّفُ اللّٰهُ بِهٖ
عِبَادَهٗ ۚ يٰعِبَادِ فَاتَّقُوْنِ ﴿١٦﴾

ဤသည် အကြင်(ပြစ်ဒဏ်)ပင်၊ အလ္လာဟ် အရှင်မြတ်သည် မိမိကျွန်တို့အား ပြစ်ဒဏ်ကို ကြောက်ရွံ့စေတော်မူ၏။ သို့ဖြစ်ပေရာ အို-ငါအရှင်မြတ်၏ ကျွန်အပေါင်းတို့၊ အသင်တို့သည် ငါအရှင်မြတ်အား ကြောက်ရွံ့ကြလေကုန်။

وَالَّذِيْنَ اجْتَنَبُوا الطَّاغُوْتَ
اَنْ يَّعْبُدُوْهَا وَاَنَابُوْٓا اِلَى اللّٰهِ
لَهُمُ الْبُشْرٰى ۚ فَبَشِّرْ عِبَادِ ﴿١٧﴾

၁၇။ သို့ရာတွင် မဟုတ်မမှန်သော ကိုးကွယ်ရာများကို ဆည်းကပ်ကိုးကွယ်ခြင်းမှ ဝေးစွာ ကြဉ်ရှောင်ခဲ့ကြ၍ အလ္လာဟ်အရှင်မြတ်ဖက်သို့ လှည့်ခဲ့ကြသော သူတို့အဖို့မှာကား ဝမ်းမြောက်ဖွယ်ရာ သတင်းရှိ၏။ သို့ဖြစ်ပေရာ (အို-နဗီတမန်တော်) အသင်သည် ငါအရှင်မြတ်၏ အကြင်ကျွန်တို့အား ဝမ်းမြောက်ဖွယ်ရာ သတင်းကို ပြောကြားပါလေ။

الَّذِيْنَ يَسْتَمِعُوْنَ الْقَوْلَ
فَيَتَّبِعُوْنَ اَحْسَنَهٗ ۗ اُولٰٓئِكَ
الَّذِيْنَ هَدٰىهُمُ اللّٰهُ وَاُولٰٓئِكَ
هُمْ اُولُوا الْاَلْبَابِ ﴿١٨﴾

၁၈။ ထိုကျွန်တို့သည် (ဤ)အာယတ်တော်ကို အာရုံစိုက်၍ နားထောင်ကြကုန်၏။ ထို့နောက် ထိုအာယတ်တော်၏ အကောင်းဆုံးသော အချက်များကို လိုက်နာကြကုန်၏။ ထိုသူတို့ကား အကြင်သူတို့ပင်၊ အလ္လာဟ် အရှင်မြတ်သည် ၎င်းတို့အား တရားလမ်းမှန်သို့ ပို့ဆောင်တော်မူ၏။ ထိုမှတစ်ပါး ထိုသူတို့သည်ပင်လျှင် ဉာဏ်ရှင်များ ဖြစ်ကြကုန်သတည်း။

اَفَمَنْ حَقَّ عَلَيْهِ كَلِمَةُ
الْعَذَابِ ۗ اَفَاَنْتَ تُنْقِذُ مَنْ
فِى النَّارِ ﴿١٩﴾

၁၉။ (အို-နဗီတမန်တော်) ပြစ်ဒဏ်စီရင်မှု အမိန့်တော် အတည်ဖြစ်ခဲ့သောသူအား(အသင်သည် အကျိုးပြုနိုင်ပါသလော)။ အသို့ပါနည်း၊ အသင်သည် ငရဲမီး၌ ရှိသူအား လွတ်မြောက်စေနိုင်ပါသလော။ (တစ်နည်း) အကြင်သူသည် ထိုသူ၏အပေါ်၌ ပြစ်ဒဏ်စီရင်မှု အမိန့်တော်သည် အတည်ဖြစ်ခဲ့ချေပြီ၊ သို့ပါလျက် (အို-နဗီတမန်တော်၊) အသင်သည် ငရဲမီး၌ရှိသူအား လွတ်မြောက်စေနိုင်ပါသလော။

لَٰكِنِ الَّذِينَ اتَّقَوْا رَبَّهُمْ لَهُمْ غُرَفٌ مِّن فَوْقِهَا غُرَفٌ مَّبْنِيَّةٌ تَجْرِي مِن تَحْتِهَا الْأَنْهَارُ ۖ وَعْدَ اللَّهِ ۖ لَا يُخْلِفُ اللَّهُ الْمِيعَادَ ﴿٢٠﴾

၂၀။ သို့ရာတွင် မိမိတို့ကို ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်အား ကြောက်ရွံ့သောသူတို့အဖို့မှာ မူကား မြင့်မွင့်သော အဆောင်များ ရှိနေကြပေသည်။ ယင်း မြင့်မွင့်သောအဆောင်များထက်ဝယ် (အခြား) ပြုလုပ်တည်ဆောက်ထားသော မြင့်မွင့်သောအဆောင်များ ရှိကြပေသည်။ ယင်းမြင့်မွင့်သောအဆောင်များ အောက်၌ ရေချောင်းများသည် စီးတွေလျက် ရှိကြပေသည်။ (ဤသည်) အလ္လာဟ်အရှင်မြတ်၏ ကတိတော်ပင်၊ အလ္လာဟ်အရှင်မြတ်သည် ကတိကို ဖောက်ဖျက်တော်မူသည် မဟုတ်ပေတကား။

أَلَمْ تَرَ أَنَّ اللَّهَ أَنزَلَ مِنَ السَّمَاءِ مَاءً فَسَلَكَهُ يَنَابِيعَ فِي الْأَرْضِ ثُمَّ يُخْرِجُ بِهِ زَرْعًا مُّخْتَلِفًا أَلْوَانُهُ ثُمَّ يَهِيجُ فَتَرَاهُ مُصْفَرًّا ثُمَّ يَجْعَلُهُ حُطَامًا ۚ إِنَّ فِي ذَٰلِكَ لَذِكْرَىٰ لِأُولِي الْأَلْبَابِ ﴿٢١﴾

၂၁။ (အို-မနုဿလူသား) အသင်သည် မမြင်ခဲ့လေသလော။ စင်စစ်ကေန် အလ္လာဟ်အရှင်မြတ်သည် မိုးကောင်းကင်မှရေကို ချပေးတော်မူခဲ့၏။ ထို့နောက် ထိုရေကို မြေ၌ရှိသော ရေကြောများဝယ် ဝင်သွားစေတော်မူခဲ့၏။ ထို့နောက် ထိုအရှင်မြတ်သည် ထိုရေဖြင့် အမျိုးမျိုး အစားစားဖြစ်သော ကောက်ပဲသီးနှံကို ထွက်စေတော်မူ၏။ ထို့နောက် ယင်းကောက်ပဲသီးနှံမှာ သွေ့ခြောက်၍သွားလေသောအခါ အသင်သည် ယင်းကောက်ပဲသီးနှံများ ဝါ၍နေသည်ကို တွေ့မြင်လေ၏။ ထို့နောက် ထိုအရှင်မြတ်သည် ထိုကောက်ပဲသီးနှံကို အစိတ်စိတ်အမွှာမွှာ ဖြစ်စေတော်မူ၏။ ကေန်မလွဲ ဤသည်၌ ဉာဏ်ရှင်တို့အဖို့ အဆုံးအမသည် အမှန်ပင် ဖြစ်ပေသည်။

أَفَمَن شَرَحَ اللَّهُ صَدْرَهُ لِلْإِسْلَامِ فَهُوَ عَلَىٰ نُورٍ مِّن رَّبِّهِ

၂၂။ သို့ဖြစ်ပေရာ အလ္လာဟ်အရှင်မြတ်သည် အကြင်သူ၏ ရင်ကို အစ္စလာမ်သာသနာတော်နှင့် စပ်လျဉ်း၍ ဖွင့်ပေးတော်မူခဲ့၏။ တစ်ဖန် ထိုသူသည်

فَوَيۡلٌ لِّلۡقٰسِيَةِ قُلُوۡبُهُمۡ مِّنۡ ذِكۡرِ اللّٰهِ ؕ اُولٰٓئِكَ فِىۡ ضَلٰلٍ مُّبِيۡنٍ ﴿٢٢﴾

မိမိ အရှင်မြတ်အထံတော်မှ အလင်းပေါ်၌ လျှောက်သွားလျက်ရှိ၏။ (ထိုသူနှင့် စိတ်နှလုံးမာမြင်းသောသူသည် တူနိုင်ပါသလော)။ [၁] စင်စစ်သော်ကား အလ္လာဟ်အရှင်မြတ်အား အောက်မေ့၊ တသ၊ သတိရခြင်းမရှိဘဲ စိတ်နှလုံး မာမြင်းခဲယဉ်းလျက်ရှိသောသူတို့၌ ပျက်စီးခြင်းသည် ရှိပေသည်။ ထိုသူတို့ကား ထင်ရှားစွာသော လမ်းမှားမှု၌ပင် ရှိနေကြကုန်သတည်း။

اَللّٰهُ نَزَّلَ اَحۡسَنَ الۡحَدِيۡثِ كِتٰبًا مُّتَشَابِهًا مَّثَانِىَ ۖ تَقۡشَعِرُّ مِنۡهُ جُلُوۡدُ الَّذِيۡنَ يَخۡشَوۡنَ رَبَّهُمۡ ۚ ثُمَّ تَلِيۡنُ جُلُوۡدُهُمۡ وَقُلُوۡبُهُمۡ اِلٰى ذِكۡرِ اللّٰهِ ؕ

၂၃။ အလ္လာဟ်အရှင်မြတ်သည် အကောင်းဆုံးသော အာယတ်တော်၊ အချင်းချင်းတစ်ခုနှင့်တစ်ခု ဆင်တူယိုးမှားဖြစ်သော၊ အကြိမ်ကြိမ် မိန့်ကြားထားသော၊ ဒွန်တွဲလျက်ရှိသော ကျမ်းဂန်တစ်စောင်ကို ချပေးတော်မူ၏။ ယင်းအာယတ်တော်ကို ကြားနာရသောကြောင့် မိမိတို့ကို ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်အား ကြောက်ရွံ့ရှိသေကြလေသောသူတို့၏ အသားအရေတို့မှာ ကြက်သီးမွေးညင်းထလာလေ၏။ ထို့နောက် ထိုသူတို့၏ အသားအရေများသည်လည်းကောင်း၊ ထိုသူတို့၏စိတ်နှလုံးများသည်လည်းကောင်း၊ အလ္လာဟ်အရှင်မြတ်အား အောက်မေ့တသ သတိရအံ့သောငှာ နူးညံ့သိမ်မွေ့ ပျော့ပျောင်း၍ လာလေတော့၏။

---

(၁) အလင်းရသူနှင့် အလင်းမဲ့သူတို့ချင်း မတူနိုင်။

ပုဂ္ဂိုလ်တစ်ဦးကား အလ္လာဟ်အရှင်မြတ်သည် ၎င်း၏ရင်ကို(စိတ်နှလုံးကို) အစ္စလာမ်အား သက်ဝင်ယုံကြည်ရန် ဖွင့်ပေးထားတော်မူ၏။ ထိုသူ၌ အစ္စလာမ်နှင့် စပ်လျဉ်း၍ စိုးစဉ်းမျှပင် ဒွိဟသံသယ မရှိ။ အစ္စလာမ်၏ အမိန့်ပညတ်များကို လိုက်နာကျင့်သုံးရာတွင်လည်း အနည်းငယ်မျှပင် ငြိုငြင်မှုမရှိ။ အလ္လာဟ်အရှင်မြတ်သည် ထိုသူ့အား (တောင်ဖစ်က်) အကောင်း ပြုစွမ်းနိုင်စေသည့် အကြောင်းညီညွတ်မှု၊ အခြေအနေသင့်မြတ်မှု၊ (ဖဆွီရတ်) အမှန်တရား မြင်မှုတည်းဟူသော ထူးဆန်းလှသည့် အလင်းရောင်တစ်မျိုးကို ချီးမြှင့်ထားတော်မူ၏။ ထိုသူသည် ထိုသည့် အလင်းရောင်တွင် အလ္လာဟ်အရှင်မြတ်၏ လမ်းတော်၌ ငြိမ်းချမ်းသာယာစွာ သွားလာလှုပ်ရှားနေ၏။ အခြား ပုဂ္ဂိုလ်တစ်ဦးမှာကား ၎င်း၏စိတ်နှလုံးသည် ကျောက်ခဲပမာ မာမြင်း၏။ ခဲယဉ်း၏။ ခက်ထန်၏။ ထိုသူသည် မည်သည့်အဆုံးအမကိုမျှ လက်မခံ။ မည်သည့် ကောင်းမှုကိုမျှ မတွေး။ မေ့မှား၍မျှ အလ္လာဟ်အရှင်မြတ်အား အောက်မေ့သတ သတိရဘူးသည်ဟူ၍လည်း မရှိ။ ➤➤

ذٰلِكَ هُدَى اللّٰهِ يَهْدِيْ بِهٖ مَنْ يَّشَآءُ ۗ وَمَنْ يُّضْلِلِ اللّٰهُ فَمَا لَهٗ مِنْ هَادٍ ﴿٢٣﴾

ဤသည်ကား အလ္လာဟ်အရှင်မြတ်၏ တရားလမ်းညွှန်ပင်၊ အလ္လာဟ်အရှင်မြတ်သည် ယင်းသည့် တရားလမ်းညွှန်ဖြင့် မိမိအလိုရှိတော်မူသောသူအား တရားလမ်းမှန်သို့ ပို့ဆောင်တော်မူ၏။ စင်စစ်သော်ကား အလ္လာဟ်အရှင်မြတ်သည် မည်သူ့အားမဆို လမ်းမှား၌ ရှိစေတော်မူပါလျှင် ထိုသူအား မည်သူတစ်ဦးတစ်ယောက်မျှပင် တရားလမ်းမှန်သို့ ပို့ဆောင်သူဟူ၍ မရှိတော့ပြီတကား။

أَفَمَنْ يَّتَّقِيْ بِوَجْهِهٖ سُوْٓءَ الْعَذَابِ يَوْمَ الْقِيٰمَةِ ۗ وَقِيْلَ لِلظّٰلِمِيْنَ ذُوْقُوْا مَا كُنْتُمْ تَكْسِبُوْنَ ﴿٢٤﴾

၂၄။ သို့ဖြစ်ပေရာ အကြင်သူသည် 'ကိယာမတ်' ရှင်ပြန်ထမည့်နေ့တွင် ပြင်းထန်သော ပြစ်ဒဏ်များကို မိမိမျက်နှာဖြင့် ကာကွယ်မည်ဖြစ်၏။ ၎င်းပြင် (ထိုကဲ့သို့သော) မတရားပြုလုပ်သူတို့အား "အသင်တို့သည် မိမိတို့ ဆည်းပူးလျက် ရှိခဲ့ကြသည်တို့၏ ရသာကို မြည်းစမ်းကြလေကုန်"ဟု ပြောဆိုခြင်း ခံရမည်ဖြစ်၏။ (ထိုကဲ့သို့သောသူတို့နှင့် ပြစ်ဒဏ်မှ လွတ်ကင်းကြသောသူတို့သည် တူကြပါသလော)။

كَذَّبَ الَّذِيْنَ مِنْ قَبْلِهِمْ فَاَتٰىهُمُ الْعَذَابُ مِنْ حَيْثُ لَا يَشْعُرُوْنَ ﴿٢٥﴾

၂၅။ ၎င်းတို့အလျင် ရှိခဲ့ကြသော သူတို့သည်လည်း (အမှန်တရားကို) မဟုတ်မမှန်ဟူ၍ စွပ်စွဲငြင်းပယ်ခဲ့ကြကုန်၏။ သို့ဖြစ်ပေရာ ပြစ်ဒဏ်သည် ၎င်းတို့ထံ ၎င်းတို့မထင်မမြင်ကြသောနည်းဖြင့် ရောက်ရှိ၍ လာခဲ့လေသည်။

---

➤➤ အခါခပ်သိမ်း အဓိပ္ပာယ်ကင်းမဲ့သော၊ အချည်းနှီးသော အတွေးအခေါ်များ၊ မိဘရိုးရာ၊ ဓလေ့ထုံးစံများတွင်သာ နစ်မွန်း၍နေ၏။ အထက်တွင်ဖော်ပြပါ အလင်းရသူနှင့်အလင်းမဲ့သူ၊ အမြင်မှန်ရသူနှင့် အမြင်မှားသူ၊ သူတော်စင်နှင့် သူယုတ်မာတို့သည် အချင်းချင်း အသို့လျှင် တူနိုင်ကြအံ့နည်း။

فَأَذَاقَهُمُ اللَّهُ الْخِزْيَ فِي الْحَيَاةِ الدُّنْيَا ۖ وَلَعَذَابُ الْآخِرَةِ أَكْبَرُ ۚ لَوْ كَانُوا يَعْلَمُونَ ﴿٢٦﴾

၂၆။ တစ်ဖန် အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့အား ပစ္စုပ္ပန်လောကီဘဝတွင် ကျိုးယုတ်ရက်ရဲ၊ ဂုဏ်ရည် နိမ့်ကြခြင်း၏ ရသာကို မြည်းစမ်းစေတော်မူခဲ့၏။ တမလွန်ဘဝ၏ ပြစ်ဒဏ်သည် အမှန်ပင် သာ၍ကြီးမား လေးလှပေသည်၊ ၎င်းတို့သည် (ဤသည်ကို) သိကြပါလျှင် ကောင်းစွ။

وَلَقَدْ ضَرَبْنَا لِلنَّاسِ فِي هَٰذَا الْقُرْآنِ مِن كُلِّ مَثَلٍ لَّعَلَّهُمْ يَتَذَكَّرُونَ ﴿٢٧﴾

၂၇။ ၎င်းပြင် ဧကန်မလွဲ ငါအရှင်မြတ်သည် ဤကုရ်အာန်ကျမ်းတော်မြတ်တွင် လူတို့အဖို့ ၎င်းတို့ တရားရကြအံ့သောငှာ အလုံးစုံသော ဥပမာပုံဆောင်ချက်များကို ခိုင်းနှိုင်း မိန့်ကြားတော်မူခဲ့၏။

قُرْآنًا عَرَبِيًّا غَيْرَ ذِي عِوَجٍ لَّعَلَّهُمْ يَتَّقُونَ ﴿٢٨﴾

၂၈။ ၎င်းတို့သည် (ပြစ်မှုဒုစရိုက်များမှ) ကြဉ်ရှောင်နိုင်ကြအံ့သောငှာ (ငါအရှင်မြတ်သည်) စကားအသုံးအနှုန်း အဖွဲ့အနွဲ့ကောင်းသော၊ အကွေ့အကောက်ကင်းမဲ့သော ကုရ်အာန်ကျမ်းတော်မြတ် (ချပေးသနားတော်မူခဲ့၏)။

ضَرَبَ اللَّهُ مَثَلًا رَّجُلًا فِيهِ شُرَكَاءُ مُتَشَاكِسُونَ وَرَجُلًا سَلَمًا لِّرَجُلٍ هَلْ يَسْتَوِيَانِ مَثَلًا ۚ

၂၉။ အလ္လာဟ်အရှင်မြတ်သည် ဥပမာပုံဆောင်ချက်တစ်ခုကို ခိုင်းနှိုင်းတော်မူ၏။ ကျွန်ယောက်ျား တစ်ယောက်ရှိ၏။ ၎င်း၌ အချင်းချင်း သဘောကွဲလွဲ မသင့်မြတ်သော ဖက်စပ်ပါဝင်ပိုင်ဆိုင်သူများ(လည်း) ရှိကြကုန်၏။ ထိုမှတစ်ပါး အခြားကျွန်ယောက်ျား တစ်ယောက်မှာကား လုံးလုံးလျားလျား လူတစ်ဦးတည်း ပိုင်ဖြစ်၏။ *ထိုယောက်ျားနှစ်ဦးတို့မှာ အခြေအနေအားဖြင့် တူနိုင်ကြလေသလော။* [၁]

---

(၁) **မုရှ်ရစ်က်နှင့် မုဝဟ်ဟိဒ်၏ ဥပမာ၊**

ကျွန်တစ်ယောက်ရှိ၏။ ထိုကျွန်ကိုပိုင်ဆိုင်သူ အမြောက်အမြားရှိ၏။ ထိုပိုင်ဆိုင်သူများသည်လည်း အကြောင်းအားလျော်စွာ စိတ်နေသဘောထား မဖြောင့်စင်းကြပေ။ အချင်းချင်း မထောက်ထား၊ မလေးစားကြပေ။ အချင်းချင်း မသင့်မြတ်ကြပေ။ အချင်းချင်း အငြင်းပွားလျက်ရှိကြပေသည်။ ဆန့်ကျင်လျက် ရှိကြပေသည်၊ ➤➤

اَلْحَمْدُ لِلّٰهِ ۚ بَلْ اَكْثَرُهُمْ لَا يَعْلَمُوْنَ ﴿٢٩﴾

ချီးမွမ်းထောမနာ အပေါင်းတို့သည် အလ္လာဟ်အရှင်မြတ်နှင့်သာ သက်ဆိုင် ၏။ သို့ရာတွင် ၎င်းတို့အနက် အများဆုံးသော သူတို့မှာကား သိရှိကြသည်မဟုတ်ပေ။

اِنَّكَ مَيِّتٌ وَّاِنَّهُمْ مَّيِّتُوْنَ ﴿٣٠﴾

၃၀။ (အို-နဗီတမန်တော်) ဧကန်မလွဲ အသင်သည်လည်း သေဆုံးရအံ့သောသူဖြစ်၏။ ထိုနည်းတူစွာ ၎င်းတို့သည်လည်း ဧကန်အမှန် သေဆုံးကြရအံ့သော သူများပင်။ ၁

ثُمَّ اِنَّكُمْ يَوْمَ الْقِيٰمَةِ عِنْدَ رَبِّكُمْ تَخْتَصِمُوْنَ ﴿٣١﴾

၃၁။ ထို့နောက် အသင်တို့သည် "ကိယာမတ်" ရှင်ပြန်ထမည့်နေ့တွင် မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်၏ရှေ့တော်မှောက်ဝယ် ဧကန်အမှန် အငြင်းအခုံ ပြုကြကုန်အံ့သတည်း။

➤➤ ပိုင်ဆိုင်သူများအနက် လူတိုင်းသည် အဆိုပါကျွန်ကို မိမိတစ်ဦးတည်းသာ ပိုင်ဆိုင်လိုသည်။ မိမိ၏ အလုပ်ကိုသာ လုပ်စေချင်သည်။ အခြားပိုင်ဆိုင်သူများနှင့် မည်သို့မျှ မဆက်ဆံစေလိုပေ။ သို့ဖြစ်လျှင် အဆိုပါ အများပိုင်ကျွန်သည် မသင့်မြတ်သောသခင်များ၏စပ်ကြားတွင် စိတ်အပျက်ကြီးပျက်လျက် ရှိနေပေမည်။ မည်သည့်သခင်၏ အလိုဆန္ဒကိုမျှ ဖြည့်စွမ်းပေးနိုင်မည် မဟုတ်ပေ။

အခြားကျွန်တစ်ယောက်ရှိ၏။ ထိုကျွန်မှာ ပိုင်ဆိုင်သူ အများအပြား မရှိ။ တစ်ဦးတည်းပိုင် ဖြစ်၏။ သို့ဖြစ်ရာထိုကျွန်သည် မိမိတစ်ဦးတည်းသော သခင်အား တစ်စိတ်တစ်လက်တည်း ကျေနပ်နှစ်သက် စေရန်သာရှိသည်။ အများပိုင် ကျွန်ကဲ့သို့ စိတ်များရန်မလိုပေ။ အထက်ဖော်ပြပါ အများပိုင်ကျွန်နှင့် တစ်ဦးတည်းပိုင် ကျွန်သည် အချင်းချင်း အသို့လျှင်တူနိုင်အံ့နည်း။ အလျှင်းမတူ။ ထို့အတူ တစ်ဆူတည်းသော အလ္လာဟ် အရှင်မြတ်အားသာ ယုံကြည်ကိုးကွယ်သော "မုဝဟ်ဟိဒ်" နှင့် ကိုးကွယ်ရာ အများအပြားကို ကိုးကွယ်သော "မုရှ်ရစ်က်" သည်လည်း အချင်းချင်း မတူနိုင်ပေ။

(၁) ကာဖိရ်များသည် ဤရွေ့ဤမျှ ထင်ရှားပြတ်သားသော၊ ကျိုးကြောင်းပြ၍ အထပ်ထပ်အခါခါ သတိပေး နှိုးဆော်နေသော ကုရ်အာန်ကျမ်းလာ ဒေသနာတော်များကို ဤပစ္စက္ခတွင်မနာခံကြပါက တမန်တော်မြတ်သည် ၎င်းတို့အတွက် စိတ်ဆင်းရဲနေတော်မူရန် မလိုပေ။ အဘယ့်ကြောင့်ဆိုသော် တမန်တော်မြတ်သည်လည်း တစ်ရက် ကွယ်လွန်သေဆုံးတော်မူရမည်သာ ဖြစ်သည်။ ကာဖိရ်များသည်လည်း တစ်ရက် သေကြရမည်သာ ဖြစ်သည်။ ထို့နောက် ကိယာမတ်နေ့တွင် အားလုံးတို့သည် အလ္လာဟ်အရှင်မြတ်၏ ရှေ့တော်မှောက်သို့ မလွဲဧကန် ရောက်ကြရမည်ဖြစ်သည်။ မိမိတို့၏ ပြဿနာများကို အသီးသီး တင်ပြကြရမည်သာဖြစ်သည်။ ထိုအခါ အလ္လာဟ်အရှင်မြတ်သည် လက်တွေ့တိကျပြတ်သားစွာ အဆုံးအဖြတ်ပေးတော်မူမည်သာ ဖြစ်သည်တည်း။ မည်သို့မည်ပုံ အဆုံးအဖြတ် ပေးတော်မူမည့်အကြောင်း ရှေ့အာယတ်တော်တွင် မိန့်ဆိုထားတော်မူသည်။

فَمَنْ أَظْلَمُ مِمَّنْ كَذَبَ عَلَى اللَّهِ وَكَذَّبَ بِالصِّدْقِ إِذْ جَاءَهُ ۚ أَلَيْسَ فِي جَهَنَّمَ مَثْوًى لِلْكَافِرِينَ ﴿٣٢﴾

၃၂။ စင်စစ်သော်ကား အကြင်သူထက်ပို၍ မတရားသောသူသည် မည်သူရှိအံ့နည်း၊ ထိုသူသည် အလ္လာဟ်အရှင်မြတ်အပေါ်၌ မုသားစကားကို ပြောဆိုခဲ့၏။ ထိုမှတစ်ပါး အမှန်တရားသည် ၎င်း၏ထံသို့ ရောက်ရှိ၍ လာလေသောအခါ ၎င်းသည် ယင်းအမှန်တရားကို မဟုတ်မမှန်ဟူ၍ပင် ငြင်းပယ်ခဲ့၏။ ထို(ကဲ့သို့သော) "ကာဖိရ်" သွေဖည်ငြင်းပယ်ကြကုန်သော သူတို့၏ နေရာထိုင်ခင်းမှာ "ဂျဟန္နမ်" ငရဲဘုံ၌ပင် ရှိသည် မဟုတ်လော။ ၁

وَالَّذِي جَاءَ بِالصِّدْقِ وَصَدَّقَ بِهِ ۙ أُولَٰئِكَ هُمُ الْمُتَّقُونَ ﴿٣٣﴾

၃၃။ သို့ရာတွင် အကြင်သူသည် အမှန်တရားကို ဆောင်ယူခဲ့၏။ ထိုမှတစ်ပါး ယင်းအမှန်တရားကို ဟုတ်မှန်ကြောင်း ယုံကြည်ထောက်ခံခဲ့၏။ ထိုသူတို့ပင်လျှင် "မွတ္တကီ" ပြစ်မှုများမှ ကြဉ်ရှောင်ကြကုန်သော သူတော်စင်များဖြစ်ကြကုန်၏။

لَهُمْ مَا يَشَاءُونَ عِنْدَ رَبِّهِمْ ۚ ذَٰلِكَ جَزَاءُ الْمُحْسِنِينَ ﴿٣٤﴾

၃၄။ ၎င်းတို့အဖို့ ၎င်းတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်အထံတော်တွင် ၎င်းတို့ အလိုရှိသမျှတို့သည် ရှိကြကုန်၏။ ဤသည်ကား အကောင်းပြုသူတို့၏ အကျိုးပင်။

---

(၁) **အများဆုံး ကျူးကျော်စော်ကားသူ၊**

အကြင်သူသည် အလ္လာဟ်အရှင်မြတ်နှင့် ပတ်သက်၍ မုသားစကားပြောဆို၏။ ထိုအရှင်မြတ်၌ ဂုဏ်ရည်တူရှိသည်။ ထိုအရှင်မြတ်၌ သားသမီးရှိသည်ဟု ပြောဆို၏။ ထိုအရှင်မြတ်နှင့် လားလားမျှ မထိုက်တန်သော ဂုဏ်ပုဒ်များသည် ထိုအရှင်မြတ်၌ ရှိသည်ဟူ၍ ပြောဆို၏။ ထို့ပြင်တစ်ဝ တမန်တော်များမှ တစ်ဆင့် မိမိထံသို့ ရောက်ရှိလာသော အမှန်တရားကိုလည်း စဉ်းစားဆင်ခြင်ခြင်းပင် မပြုဘဲ ကြားလျှင်ကြားခြင်း မဟုတ်မမှန်ဟူ၍ ပြောဆိုငြင်းပယ်၏။ လူတစ်ဦးသည် အမှန်တရားကို ဤရွေ့ဤမျှဆန့်ကျင်နေပါက ထိုသူထက် ပို၍ ကျူးကျော်စော်ကားသူ မည်သူရှိအံ့နည်း။ ယင်းသို့ ကျူးကျော်စော်ကားသူများ လားရာဘုံမှာ ဂျဟန္နမ်ငရဲဘုံ အပြင် အခြား အဘယ်ဘုံ ဖြစ်နိုင်အံ့နည်း။

لِيُكَفِّرَ اللّٰهُ عَنْهُمْ اَسْوَاَ الَّذِيْ عَمِلُوْا وَيَجْزِيَهُمْ اَجْرَهُمْ بِاَحْسَنِ الَّذِيْ كَانُوْا يَعْمَلُوْنَ ﴿٣٥﴾

၃၅။ နောက်ဆုံးတွင် အလ္လာဟ်အရှင်မြတ်သည် ထိုသူတို့မှ ထိုသူတို့ ကျင့်မူခဲ့ကြသော အဆိုးများကို ပပျောက်စေသည့်ပြင်၊ ၎င်းတို့အား ၎င်းတို့ ကျင့်မူလေ့ရှိခဲ့ကြသော အကောင်းများ၏အစားကို (အပြည့်အစုံ) ချီးမြှင့်ပေးသနားတော်မူအံ့နည်း။

اَلَيْسَ اللّٰهُ بِكَافٍ عَبْدَهٗ ۖ وَيُخَوِّفُوْنَكَ بِالَّذِيْنَ مِنْ دُوْنِهٖ ۚ وَمَنْ يُّضْلِلِ اللّٰهُ فَمَا لَهٗ مِنْ هَادٍ ﴿٣٦﴾

၃၆။ အလ္လာဟ်အရှင်မြတ်သည် မိမိ၏ကျွန် (နဗီတမန်တော်မုဟမ္မဒ်)အဖို့ လုံလောက်တော်မူသည် မဟုတ်ပါလော။ သို့ဖြစ်လင့်ကစား(အို-နဗီတမန်တော်) ၎င်းတို့သည် အသင့်အား အလ္လာဟ်အရှင်မြတ်မှတစ်ပါး အခြားသော သူတို့အားဖြင့် ခြိမ်းခြောက်၍နေကြကုန်၏။ စင်စစ်သော်ကား အလ္လာဟ်အရှင်မြတ်သည် အကြင်သူအား လမ်းမှား၍ပင် ရှိစေတော်မူပါလျှင် ထိုသူအား တရားလမ်းမှန်သို့ ပို့ဆောင်အံ့သောသူဟူ၍ တစ်ဦးတစ်ယောက်မျှပင် မရှိတော့ပြီ။ [၁]

وَمَنْ يَّهْدِ اللّٰهُ فَمَا لَهٗ مِنْ مُّضِلٍّ ۗ اَلَيْسَ اللّٰهُ بِعَزِيْزٍ ذِي انْتِقَامٍ ﴿٣٧﴾

၃၇။ ထိုနည်းတူစွာ အကြင်သူအား အလ္လာဟ်အရှင်မြတ်သည် တရားလမ်းမှန်သို့ ပို့ပေးတော်မူပါလျှင် ထိုသူအား လမ်းမှားစေအံ့သောသူဟူ၍ တစ်ဦးတစ်ယောက်မျှ မရှိတော့ပြီ။ အလ္လာဟ်အရှင်မြတ်သည် လွန်စွာနိုင်နင်း လွှမ်းမိုးတော်မူသောအရှင်၊ လက်စားချေတော်မူသောအရှင်၊ ဖြစ်တော်မူသည် မဟုတ်ပါလော။

(၁) အထက်၌ ကုရ်အာန်ကျမ်းမြတ် (၃၉း၂၉)တွင် (ရှရစ်က်)ယှဉ်တွဲကိုးကွယ်မှု မှားယွင်းကြောင်း၊ မုရှ်ရစ်က်တို့၏ မိုက်မဲမှုအကြောင်းကို ပုံဆောင်မိန့်ဆိုထားတော်မူသည်။ ထိုသည့်အကြောင်းကို မုရှ်ရစ်က်များ ကြားသိသောအခါ မုရှ်ရစ်က်များက တမန်တော်မြတ်အား အသင်သည်ငါတို့၏ ကိုးကွယ်ရာများကို ကဲ့ရဲ့ပြစ်တင်ဝေဖန်ခြင်း ပြုလုပ်ပြီး ဒေါသထွက်အောင်မပြုလင့်၊ ငါတို့၏ ကိုးကွယ်ရာများသည် ဒေါသထွက်လာကြပါက အသင့်အား ရူးသွပ်သွားအောင် ပြုလုပ်ကြလိမ့်မည်ဟု ပြောဆိုခြိမ်းခြောက်ခဲ့ကြလေသည်။ ဤအာယတ်တော်တွင် မုရှ်ရစ်က်များ၏ ခြိမ်းခြောက်မှုနှင့် စပ်လျဉ်း၍ ဖြေဆိုထားတော်မူသည်မှာ တမန်တော်မြတ်သည် အရာရာကို နိုင်နင်းလွှမ်းမိုးတော်မူသော၊ တုံ့ပြန်လက်စားချေတော်မူနိုင်သော၊ တန်ခိုးတော်အနန္တရှင်၏ ကျွန်တော်ရင်း ဖြစ်တော်မူပေရာ မုရှ်ရစ်က်တို့၏ အချည်းနှီးသော ကိုးကွယ်ရာများကို အသို့လျှင် ကြောက်ရွံ့စိုးရိမ်နေအံ့နည်း။ အလ္လာဟ်အရှင်မြတ်သည် မိမိ၏တမန်တော်အား ကာကွယ်ထိန်းသိမ်းတော်မူရန် လုံလောက်တော်မူသည် မဟုတ်ပါလော။

وَلَئِنْ سَأَلْتَهُمْ مَّنْ خَلَقَ السَّمٰوٰتِ وَالْأَرْضَ لَيَقُوْلُنَّ اللّٰهُ ۭ قُلْ اَفَرَءَيْتُمْ مَّا تَدْعُوْنَ مِنْ دُوْنِ اللّٰهِ اِنْ اَرَادَنِيَ اللّٰهُ بِضُرٍّ هَلْ هُنَّ كٰشِفٰتُ ضُرِّهٖٓ اَوْ اَرَادَنِيْ بِرَحْمَةٍ هَلْ هُنَّ مُمْسِكٰتُ رَحْمَتِهٖ ۭ قُلْ حَسْبِيَ اللّٰهُ ۭ عَلَيْهِ يَتَوَكَّلُ الْمُتَوَكِّلُوْنَ ۝٣٨

၃၈။ စင်စစ်သော်ကား (အို-နဗီတမန်တော်) အသင်သည် အကယ်၍ ထိုသူတို့အား မိုးကောင်းကင်များကိုလည်းကောင်း၊ ပထဝီမြေကိုလည်းကောင်း၊ မည်သူဖန်ဆင်းခဲ့သနည်းဟု မေးမြန်းခဲ့ပါမူ၊ မလွဲကေန်ငင်းတို့က အလ္လာဟ်အရှင်မြတ်(ဖန်ဆင်းတော်မူခဲ့သည်)ဟူ၍ပင် ပြော(ဆိုဖြေ)ကြားကြပေမည်။

အသင်သည် (၎င်းတို့အား ဤသို့) ပြောကြားပါလေ။ (အချင်းတို့) သို့ဖြစ်လျှင် အသင်တို့သည် (ငါ့အား)ပြောကြလေကုန်။ အကယ်၍ အလ္လာဟ်အရှင်မြတ်သည် ငါ့အား တစ်စုံတစ်ရာ ဘေးဒုက္ခပေးလိုတော်မူခဲ့ပါလျှင် အလ္လာဟ်အရှင်မြတ်အားစွန့်၍ အသင်တို့ဟစ်ခေါ်တသလျက် ရှိကြသည်တို့က ထိုအရှင်မြတ်သက်ရောက်စေတော်မူသော ဘေးဒုက္ခကို ဖယ်ရှားပေးနိုင်ကြမည်လော။ သို့တည်းမဟုတ် ထိုအရှင်မြတ်သည် ငါ့အား ကရုဏာ တစ်စုံတစ်ရာ ပြုလိုတော်မူခဲ့ပါလျှင် ၎င်းတို့သည် ထိုအရှင်မြတ်၏ ကရုဏာတော်ကို တားဆီးနိုင်ကြမည်လော။ (အို-နဗီတမန်တော်၊) အသင်သည် (၎င်းတို့အား)ပြောကြားပါလေ။ (အချင်းတို့၊) အလ္လာဟ်အရှင်မြတ်သည်ပင် ငါ၏အဖို့ လုံလောက်တော်မူ၏။ ယုံပုံလွှဲအပ်သူတို့သည် (မိမိတို့၏ အမှုကိစ္စအဝဝတို့ကို) ထိုအရှင်မြတ်အပေါ်၌ပင် ယုံပုံလွှဲအပ်ကြကုန်၏။ [၁]

---

(၁) တစ်ဖက်တွင် အလ္လာဟ်အရှင်မြတ် ဖြစ်တော်မူသည်။ တန်ခိုးတော် အနန္တရှင်ဖြစ်တော်မူသည်။ ထိုအရှင်မြတ်သည် မိုး၊မြေများကို ဖန်ဆင်းတော်မူသော အရှင် ဖြစ်တော်မူသည်ကို မုရှ်ရစ်က်များကပင်လျှင် ဝန်ခံပြောဆိုထားကြသည်။ အခြားတစ်ဖက်တွင် မုရှ်ရစ်က်တို့၏ အချည်းနှီးသော ကိုးကွယ်ရာများ ဖြစ်ကြသည်။ ထို ကိုးကွယ်ရာများသည် အလ္လာဟ်အရှင်မြတ် သက်ရောက်စေတော်မူလိုသည့် မည်သည့် ဒုက္ခနှင့်သုခကိုမျှ ကာကွယ် ဟန့်တားနိုင်ကြသည်မရှိ။ သို့ဖြစ်ရာ အလ္လာဟ်အရှင်မြတ်အား ယုံပုံလွှဲအပ်ရမည်လော။ သို့တည်းမဟုတ် မုရှ်ရစ်က်တို့၏ ကိုးကွယ်ရာများကိုပင် ယုံပုံလွှဲအပ်ရမည်လော။ မည်သူ့အား ကိုးစား အားထားရမည်လော။ အလ္လာဟ်အရှင်မြတ်အားသာလျှင် ယုံပုံလွှဲအပ် ကိုးစားအားထားရမည်ပင်။

قُلۡ يٰقَوۡمِ اعۡمَلُوۡا عَلٰى مَكَانَتِكُمۡ اِنِّىۡ عَامِلٌۚ فَسَوۡفَ تَعۡلَمُوۡنَ ﴿۳۹﴾

၃၉။ (အို–နဗီတမန်တော်) အသင်သည် (၎င်းတို့အား) ပြောကြားပါလေ။ (အချင်းတို့၊) အသင်တို့သည် မိမိတို့၏ (လက်ရှိ)အခြေအနေအတိုင်းပင် (ဆက်လက်၍) ကျင့်မှုလျက် ရှိကြလေကုန်၊ ငါသည်လည်း (မိမိလက်ရှိအခြေအနေအတိုင်း) ကျင့်မှုလျက်ပင် ရှိနေမည်။ မကြာမြင့်မီပင် အသင်တို့သည် သိရှိကြပေမည်။

مَنۡ يَّاۡتِيۡهِ عَذَابٌ يُّخۡزِيۡهِ وَيَحِلُّ عَلَيۡهِ عَذَابٌ مُّقِيۡمٌ ﴿۴۰﴾

၄၀။ (ဤပစ္စက္ခတွင်) မည်သူ၏ထံသို့ ၎င်းအား ဂုဏ်ရည်သေးသိမ်စေသော ပြစ်ဒဏ်ရောက်ရှိလာ၍ (နောင်တမလွန်ဘဝတွင်) မည်သူ၏အပေါ်၌ ထာဝစဉ်တည်ရှိနေမည်ဖြစ်သော ပြစ်ဒဏ် သက်ရောက်မည်ကို။

اِنَّاۤ اَنۡزَلۡنَا عَلَيۡكَ الۡكِتٰبَ لِلنَّاسِ بِالۡحَـقِّۚ فَمَنِ اهۡتَدٰى فَلِنَفۡسِهٖۚ وَمَنۡ ضَلَّ فَاِنَّمَا يَضِلُّ عَلَيۡهَاۚ وَمَاۤ اَنۡتَ عَلَيۡهِمۡ بِوَكِيۡلٍ ﴿۴۱﴾

၄၁။ (အို–နဗီတမန်တော်) ဧကန်အမှန် ငါအရှင်မြတ်သည် အသင့်အပေါ် (ဤကုရ်အာန်)ကျမ်းတော်မြတ်ကို လူတို့အကျိုးငှာ တိကျမှန်ကန်စွာ ချပေးသနားတော်မူခဲ့၏။ သို့ဖြစ်ပေရာ မည်သူမဆို တရားလမ်းမှန်ကို ရယူခဲ့လျှင် (ယင်းတရားလမ်းမှန် ရရှိခြင်း၏အကျိုးမှာ) ၎င်း၏အဖို့ဖြစ်ပေမည်။ ထိုနည်းတူစွာ မည်သူမဆို လမ်းလွဲခဲ့မူ၊ (ယင်းလမ်းလွဲမှု၏ ဆိုးရွားမှုမှာလည်း) ထိုသူ၏အပေါ်၌သာလျှင် ကျရောက်ပေမည်။ စင်စစ်သော်ကား အသင်သည် ၎င်းတို့အပေါ်၌တာဝန်ရှိသူအဖြစ် (စေလွှတ်ခြင်းခံခဲ့ရသည်) မဟုတ်ပေ။ [၁]

(၁) အလ္လာဟ်အရှင်မြတ်သည် လူသားတို့အကျိုးငှာ တမန်တော်မြတ်ထံသို့ ကုရ်အာန်ကျမ်းမြတ်ကို တိကျမှန်ကန်စွာ ချပေးသနားတော်မူပြီးဖြစ်၏။ တမန်တော်မြတ်သည်လည်း ကုရ်အာန်ကျမ်းလာ ဒေသနာတော်များကို ပွင့်လင်းစွာ ဟောကြားတော်မူပြီးဖြစ်၏။ သို့ဖြစ်ရာယခုမူ လူတိုင်းလူတိုင်းသည် မိမိအဖို့ အရှုံးနှင့်အမြတ် လမ်းနှစ်ရပ်ကို စဉ်းစား ရွေးချယ်ရန်သာရှိသည်။ ကုရ်အာန်၏ ဒေသနာတော်များနှင့်အညီ နေထိုင်ကျင့်သုံးပါက မိမိအဖို့ အမြတ်ထွက်မည်သာ။ သို့မဟုတ်ပါမူ မိမိအဖို့ အရှုံးပေါ်မည်သာ။ ပျက်စီးရမည်သာ။ တမန်တော်မြတ်၏တာဝန်မှာ လူသားတို့အား အတင်းအဓမ္မ တရားလမ်းမှန်ပေါ်သို့ အရောက်ဆွဲခေါ်ရန်မဟုတ်၊ ဒေသနာတော်များကို ဟောကြားတော်မူရန်သာဖြစ်ပေသည်။ တမန်တော်မြတ်သည် ဤသည့်တာဝန်ကို ကျေပွန်စွာ ရွက်ဆောင်တော်မူပြီးဖြစ်ရာ ➤➤

اَللّٰهُ يَتَوَفَّى الْاَنْفُسَ حِيْنَ مَوْتِهَا وَالَّتِيْ لَمْ تَمُتْ فِيْ مَنَامِهَا ۚ فَيُمْسِكُ الَّتِيْ قَضٰى عَلَيْهَا الْمَوْتَ وَيُرْسِلُ الْاُخْرٰٓى اِلٰٓى اَجَلٍ مُّسَمًّى ۭ اِنَّ فِيْ ذٰلِكَ لَاٰيٰتٍ لِّقَوْمٍ يَّتَفَكَّرُوْنَ ۝٤٢

၄၂။ အလ္လာဟ်အရှင်မြတ်သည်ပင် (သေဆုံးရန် အချိန်ရောက်သော) အသက်ဇီဝိန်များကို ၎င်းတို့ သေဆုံးချိန်၌ နုတ်သိမ်းတော်မူ၏။ ထိုနည်းတူစွာ သေဆုံးရန် အချိန်မရောက်သေးသော အသက်ဇီဝိန်များကိုလည်း ၎င်းတို့အိပ်စက်ရာ၌ (နုတ်သိမ်းတော်မူ၏)။ ထို့နောက် သေဆုံးရန် စီရင်ဆုံးဖြတ်တော်မူ(ပြီးဖြစ်)သော အသက်ဇီဝိန်များကို ထိုအရှင်မြတ်သည် တားဆီး၍ ထားတော်မူ၏။ သို့ရာတွင် ကျန်အသက်ဇီဝိန်တို့ကိုမူ ထိုအရှင်မြတ်သည် သတ်မှတ်ပြဋ္ဌာန်းပြီးဖြစ်သော အချိန်ကာလတိုင်အောင် လွှတ်ထားတော်မူ၏။ ဧကန်မလွဲ ဤသည်တွင် စဉ်းစားဆင်ခြင်ကြကုန်သော အမျိုးသားတို့အဖို့ သက်သေလက္ခဏာရပ်များသည် အမှန်ပင် ရှိကြပေသတည်း။ [၁]

➤➤ သွေ့ဖည်ငြင်းဆန် မနာခံသူများကို အလ္လာဟ်အရှင်မြတ်အား လွှဲအပ်ထားတော် မူရန်သာရှိသည်။ လူသားတို့၏ သေခြင်း၊ ရှင်ခြင်း၊ အိပ်ခြင်း၊ နိုးခြင်းများသည် ထိုအရှင်မြတ်၏ လက်တော်အတွင်း၌သာရှိသည်။ ထိုအရှင်မြတ်သည် ထိုက်သည့်အားလျော်စွာ စီရင်တော်မူပေမည်။

① ( نَفْس ) "နဖ်စ်" ဟူသောပုဒ်သည် အနက်အဓိပ္ပာယ် အလွန်ကြွယ်သည်။ အသက်ဇီဝိန် ဝိညာဉ်၊ကိုယ်ခန္ဓာ၊ စိတ်နှလုံး (Physical life- Psychical life) စသည့် အနက်များဟောသည်။

လူတိုင်း၌ "နဖ်စ်" နှစ်ခုရှိသည်။ (၁) (နဖ်စုလ်ဟယာတ်) ရှင်သန်စေသောအသက်၊ လူသေဆုံးသည့်အခါ ဤအသက်သည် ထွက်ခွါသွားသည်။ ဤအသက် ထွက်ခွါသွားသည့်အခါ လူသည် သေကြေပျက်စီးသွားလေသည်။ (၂) (နဖ်စုလ်တမ်ယီဇ်) ခွဲခြားသိမြင်စေသော ဝိညာဉ်၊ ဤ ဝိညာဉ်သည် လူအိပ်စက်နေချိန်တွင် လူနှင့် ကင်းကွာနေသည်။ အိပ်စက်ရာမှ နိုးထလာသောအခါ ဤဝိညာဉ်သည် ပြန်လည် ရောက်ရှိလာသည်။ မအာလင်မ်၊ မဒါရိက်။

ဤအာယတ်တော်၏ အလိုသဘောမှာ-အလ္လာဟ်အရှင်မြတ်သည် အနန္တတန်ခိုးတော်ရှင် ဖြစ်တော်မူသည်။ သေမှု၊ ရှင်မှုအစုစုသည် ထိုအရှင်မြတ်၏ လက်တော်တွင်း၌သာ ရှိပေသည်။ အလ္လာဟ်အရှင်မြတ်သည်ပင် သေဆုံးရန် အချိန်စေ့သောသူများ၏ အသက်များကို ၎င်းတို့သေဆုံးချိန်တွင် လုံးဝ အပြည့်အဝ နှုတ်သိမ်းတော်မူသည်။ သို့ အသက်များကို နှုတ်သိမ်းတော်မူလိုက်သည့်အခါ အသက်နှုတ်သိမ်းခြင်း ခံရသူများ၌ ရှင်သန်စေသော အသက်၊ ခွဲခြားသိမြင်စေသောဝိညာဉ် နှစ်ခုစလုံး ဆိတ်သုဉ်းသွားလေသည်။ သေဆုံးရန် အချိန်မစေ့သေးသော သူများ၏ အသက်များကိုလည်း အလ္လာဟ်အရှင်မြတ်သည်ပင် ၎င်းတို့ အိပ်စက်နေချိန်၌ နှုတ်သိမ်းထားတော်မူသည်။ သို့ အသက်နှုတ်သိမ်းထားတော်မူသော်လည်း ရှင်သန်စေသော အသက်များ ကျန်ရှိနေပေရာ ကိုယ်ခန္ဓာများသည် ရှင်သန်လျက်ပင် ရှိနေပေသည်။ နိုးထလာကြသည့်အခါ ခွဲခြားသိမြင်စေသော ဝိညာဉ်များသည် ➤➤

اَمِ اتَّخَذُوۡا مِنۡ دُوۡنِ اللّٰهِ شُفَعَآءَ ؕ قُلۡ اَوَلَوۡ كَانُوۡا لَا يَمۡلِكُوۡنَ شَيۡـًٔـا وَّلَا يَعۡقِلُوۡنَ ﴿۴۳﴾

၄၃။ ၎င်းတို့သည် အလ္လာဟ်အရှင်မြတ်အပြင် သူတစ်ပါးတို့အား ကြားဝင် အသနားခံပေးအံ့သော သူများ ပြုလုပ်သတ်မှတ်ခဲ့ကြလေသလော၊ (အို-နဗီ တမန်တော်၊) အသင်သည် ၎င်းတို့အား (အချင်းတို့) ၎င်းတို့သည် မည်သည့်တစ်စုံတစ်ရာကိုမျှ ပိုင်ဆိုင်ခြင်း မရှိကြသည့်အပြင် မည်သည့်တစ်စုံတစ်ရာကိုမျှ မသိနားမလည်ကြသော်လည်း (ကြားဝင်အသနားခံ၍ ပေးနိုင်ကြမည်လော)ဟု ပြောဆို(မေးမြန်း)ပါလေ။

قُلۡ لِّلّٰهِ الشَّفَاعَةُ جَمِيۡعًا ؕ لَهٗ مُلۡكُ السَّمٰوٰتِ وَالۡاَرۡضِ ؕ ثُمَّ اِلَيۡهِ تُرۡجَعُوۡنَ ﴿۴۴﴾

၄၄။ (အို-နဗီတမန်တော်) အသင်သည် (၎င်းတို့အား ဤသို့)ပြောကြားပါလေ။ (အချင်းတို့၊) ကြားပင် *အသနားခံမှု အာဏာအလုံးစုံကား အလ္လာဟ်အရှင်မြတ်၌သာရှိ၏။* [1] မိုးကောင်းကင်များကို စိုးမိုးအုပ်ချုပ်မှုအာဏာသည်လည်းကောင်း၊ ပထဝီမြေကို စိုးမိုးအုပ်ချုပ်မှု အာဏာသည်လည်းကောင်း၊ ထိုအရှင်မြတ်၌သာရှိ၏။ ထို့နောက် အသင်တို့သည် ထိုအရှင်မြတ်အထံတော်သို့သာလျှင် ပြန်ကြရပေမည်။

---

➤➤ တစ်မဟုတ်ခြင်း ရုတ်တရက်ချက်ချင်း ပြန်လည်ရောက်ရှိလာပေသည်။ ဆိုလိုသည်ကား သို့အသက်နှုတ်သိမ်းပြီးနောက် သေချိန်စေ့သော၊ သေဆုံးရန် ဆုံးဖြတ်ထားတော်မူသော သူများထံသို့ အလ္လာဟ်အရှင်မြတ်သည် နှုတ်သိမ်းထားတော်မူသော အသက်များကို ပြန်လွှတ်ပေးတော်မူသည်မရှိ၊ သေချိန်မစေ့သေးသော သူများထံသို့မူ သတ်မှတ်ထားတော်မူသော ၎င်းတို့၏ သက်တမ်းကုန်ဆုံးသည်အထိ နှုတ်သိမ်းထားတော်မူသော သက်ဆိုင်ရာဝိညာဉ်များကို ပြန်လွှတ်ပေးတော်မူသည်။ အလ္လာဟ်အရှင်မြတ်၏ တန်ခိုးတော်နှင့် ကျေးဇူးတော်ကား ကြီးမားလှပါဘိတကား။

(၁) မုရှ်ရစ်က်များက–အလ္လာဟ်အရှင်မြတ်မှတစ်ပါး ၎င်းတို့ ပြုလုပ်ထားကြသော ၎င်းတို့၏ ကိုးကွယ်ရာများသည် အလ္လာဟ်အရှင်မြတ် ထံတော်၌ ၎င်းတို့အား အသနားခံကြပေလိမ့်မည်။ ၎င်းတို့၏ အသနားခံပေးမှုကြောင့် လုပ်ငန်းများ ထမြောက်အောင်မြင်ကြသည်။ ထို့အတွက်ကြောင့် ယင်းကိုးကွယ်ရာများကို ဆည်းကပ်ကိုးကွယ်ကြခြင်း ဖြစ်သည်ဟု ဆိုခဲ့ကြသည်။ ဤစကားသည် အမှားတည်း၊ အဘယ်ကြောင့်ဆိုသော် ပထမသော် အသနားခံပေးသူ ဖြစ်ရုံမျှဖြင့် ကိုးကွယ်ရာအရှင် မဖြစ်နိုင်။ ဒုတိယမှီ-အသနားခံပေးသူသည် (၁) အလ္လာဟ်အရှင်မြတ်ထံတော်မှ အသနားခံပေးနိုင်ရန် ခွင့်ပြုချက်ရရှိသူလည်း ဖြစ်ရပေမည်။ (၂)အသနားခံပေးခြင်း ခံရမည့် သက်ဆိုင်ရာပုဂ္ဂိုလ်မှာလည်း အလ္လာဟ်အရှင်မြတ် နှစ်သက်တော်မူသော ပုဂ္ဂိုလ်မျိုး ဖြစ်ရပေမည်။ ယခုမူ မုရှ်ရစ်က်တို့၏ ➤➤

وَإِذَا ذُكِرَ اللَّهُ وَحْدَهُ اشْمَأَزَّتْ قُلُوبُ الَّذِينَ لَا يُؤْمِنُونَ بِالْآخِرَةِ ۖ وَإِذَا ذُكِرَ الَّذِينَ مِنْ دُونِهِ إِذَا هُمْ يَسْتَبْشِرُونَ ﴿٤٥﴾

၄၅။ စင်စစ်သော်ကား အလ္လာဟ်အရှင်မြတ် တစ်ဆူတည်းသာလျှင် အောက်မေ့တသ သတိရခြင်းကို ခံရတော်မူသောအခါ "အာခိရတ်"တမလွန်ဘဝကို သက်ဝင်ယုံကြည်ခြင်းမရှိကြသော သူတို့၏စိတ်နှလုံးများသည် စက်ဆုပ်ကြကုန်၏။ သို့ရာတွင် ထိုအရှင်မြတ်မှတစ်ပါး အခြားသူများ အောက်မေ့တသ သတိရခြင်းခံကြရသောအခါ၌မူကား ၎င်းတို့သည် ရုတ်တရက် ဝမ်းမြောက် သွားကြကုန်သတည်း။ ၁

قُلِ اللَّهُمَّ فَاطِرَ السَّمَاوَاتِ وَالْأَرْضِ عَالِمَ الْغَيْبِ وَالشَّهَادَةِ أَنْتَ تَحْكُمُ بَيْنَ عِبَادِكَ فِي مَا كَانُوا فِيهِ يَخْتَلِفُونَ ﴿٤٦﴾

၄၆။ (အို-နဗီတမန်တော်၊) အသင်သည် (ဤသို့) လျှောက်ထားပန်ကြားပါလေ၊ အို-မိုးကောင်းကင်များကိုလည်းကောင်း၊ ကမ္ဘာမြေကိုလည်းကောင်း၊ ဖန်ဆင်းတော်မူသော၊ အကွယ်၌ရှိသည်တို့ကိုလည်းကောင်း၊ ထင်ရှားသည်ကိုလည်း သိတော်မူသော အလ္လာဟ်အရှင်မြတ်သည်၊ အရှင်မြတ်သည်ပင် မိမိကျွန်တို့၏အကြားဝယ် ၎င်းတို့အချင်းချင်း သဘောကွဲလွဲလျက် ရှိခဲ့ကြကုန်သော အရေးကိစ္စတို့နှင့်စပ်လျဉ်း၍ စီရင်ဆုံးဖြတ်တော်မူမည် ဖြစ်ပါသည်။ ၂

➤➤ ကိုးကွယ်ရာများကို အလ္လာဟ်အရှင်မြတ်သည် အသနားခံပေးခွင့် ပြုထားတော်မူသည်လည်းမရှိ၊ အသနားခံပေးခြင်း ခံကြရမည့် မုရှ်ရစ်ကဲများအား အလ္လာဟ်အရှင်မြတ်သည် နှစ်သက်တော်မူသည်လည်းမရှိ။ သို့ဖြစ်ရာ မုရှ်ရစ်ကဲတို့၏ စကားသည် အသို့လျှင် မှန်ကန်နိုင်အံ့နည်း။

① မုရှ်ရစ်ကဲများ၏ ထူးခြားချက်တစ်ရပ်မှာ ၎င်းတို့သည် တစ်ခါတစ်ရံ အလ္လာဟ်အရှင်မြတ်အား ယုံကြည်မြတ်နိုးကြသည့်အကြောင်း ထုတ်ဖော်ပြောဆိုတတ်ကြ၏။ သို့ရာတွင် အလ္လာဟ်အရှင်မြတ် တစ်ပါးတည်းအား အောက်မေ့တသ သတိရခြင်း၊ ထောပနာပြုခြင်းဖြင့် ၎င်းတို့သည် ဝမ်းမသာကြပေ။ သို့ရာတွင် ၎င်းတို့၏ မမှန်ကန်သော၊ အချည်းနှီးသော ကိုးကွယ်ရာများကို ထောပနာပြုလျှင် ၎င်းတို့သည် ဝမ်းသာရွှင်လန်းကြသည်။ ယခုခေတ်တွင်လည်း အချို့အမည်ခံ မုစ်လင်မ်များသည် အလ္လာဟ်အရှင်မြတ်၏ အနန္တတန်ခိုးတော်၊ ဉာဏ်တော်များ အကြောင်း ထုတ်ဖော်ပြောဆိုပါက ၎င်းတို့သည် ဝမ်းသာကြသည် မရှိပေ။ ၎င်းတို့ ယုံကြည်မြတ်နိုးသော၊ ကြည်ညိုလေးစားသော သခင့် သခင်ကြီးများ၏အကြောင်း၊ ၎င်းတို့၏ ယုတ္တိ၊ ယုတ္တာ မရှိသော 'ကရာမတ်' အစွမ်းအကြောင်းများကို ထုတ်ဖော်ပြောဆိုပါက အလွန်အမင်း ဝမ်းသာကြပေသည်။ မျက်နှာ ရွှင်လန်းကြပေသည်။ ဤသည် 'ရှရစ်ကဲ'ဘက်သို့ ယိမ်းယိုင်နေသော အပြုအမူပင်။ အချိန်မီပြုပြင်ကြရာသတည်း။

وَلَوْ أَنَّ لِلَّذِينَ ظَلَمُوا مَا فِي الْأَرْضِ جَمِيعًا وَمِثْلَهُ مَعَهُ لَافْتَدَوْا بِهِ مِن سُوءِ الْعَذَابِ يَوْمَ الْقِيَامَةِ ۚ وَبَدَا لَهُم مِّنَ اللَّهِ مَا لَمْ يَكُونُوا يَحْتَسِبُونَ ﴿٤٧﴾

၄၇။ အမှန်စင်စစ်သော်ကား တွဲဖက်ယှဉ်ပြိုင်ကိုးကွယ်မှုကို ကျူးလွန်ခဲ့ကြကုန်သောသူတို့၌ ကမ္ဘာမြေဝယ်ရှိရှိသမျှသော ပစ္စည်းဥစ္စာ အလုံးစုံတို့အပြင် ၎င်းနှင့်အတူ ထိုမျှလောက် နောက်ထပ်ရှိငြားအံ့လည်း အမှန်ပင် ထိုသူတို့သည် ယင်းဥစ္စာပစ္စည်း(အလုံးစုံ)တို့ကို "ကိယာမတ်" ရှင်ပြန်ထမည့်နေ့တွင် ဆိုးရွားပြင်းထန်လှသော ပြစ်ဒဏ်မှလွတ်မြောက်ရန် လျော်ကြေးပေးကြမည်သာ။ ထို့ပြင် ၎င်းတို့ရှေ့ဝယ် ၎င်းတို့မထင်မှတ်ခဲ့ကြသော အကြောင်းကိစ္စများသည် အလ္လာဟ်အရှင်မြတ် အထံတော်မှ ထင်ရှားပေါ်လွင်လာခဲ့ပေမည်။

وَبَدَا لَهُمْ سَيِّئَاتُ مَا كَسَبُوا وَحَاقَ بِهِم مَّا كَانُوا بِهِ يَسْتَهْزِءُونَ ﴿٤٨﴾

၄၈။ ထိုမှတစ်ပါး ၎င်းတို့ဆည်းပူးခဲ့ကြကုန်သော ပြစ်မှုဒုစရိုက်များ၏ အန္တရာယ်များလည်း ၎င်းတို့ရှေ့ဝယ် ပေါ်လွင်ထင်ရှားလာခဲ့ပေမည်။ ထိုမှတစ်ပါး ၎င်းကိုပြက်ချော်သမျှ ပြုလျှက်ရှိကြကုန်သော ပြစ်ဒဏ်သည်လည်း ၎င်းတို့အား ဝိုင်းဝန်းလျက် ရှိချေအံ့သတည်း။

---

(၂) ဤဆုမွန်တွင် "တောင်ဟီးဒ်" အကြောင်းကို အလွန်တိုတောင်းသိပ်သည်းစွာ မိန့်ဆိုထားတော်မူသည်။ ဤဆုမွန်၏ အချုပ်သဘောမှာ–

(၁) အလ္လာဟ်အရှင်မြတ်သည်သာလျှင် မိုးမြေကို စတင်ဖန်ဆင်းတော်မူသော အရှင် ဖြစ်တော်မူသည်။ ဤတွင်လည်း ထိုအရှင်မြတ်၌ ဂုဏ်ရည်တူမရှိ။

(၂) အလ္လာဟ်အရှင်မြတ်သည်သာလျှင် အရာခပ်သိမ်းကုန်တို့ကို အကြွင်းမဲ့သိတော်မူသောအရှင် ဖြစ်တော်မူသည်။ ဤတွင်လည်း ထိုအရှင်မြတ်၌ ဂုဏ်ရည်တူမရှိ။

(၃) အလ္လာဟ်အရှင်မြတ်သည်သာလျှင် အရေးကိစ္စအဝဝကို စီရင်ဆုံးဖြတ်ပေးတော်မူသော အရှင်ဖြစ်တော်မူသည်။ ဤတွင်လည်း ထိုအရှင်မြတ်၌ ဂုဏ်ရည်တူမရှိ။ ဆိုလိုသည်ကား အလ္လာဟ်အရှင်မြတ်သည်သာလျှင် တစ်ပါးတည်းသော တန်ခိုးတော်အနန္တ၊ ဉာဏ်တော်အနန္တရှင်၊ တစ်ပါးတည်းသော စီရင်ဆုံးဖြတ်ပေးတော်မူသောအရှင် ဖြစ်တော်မူသည်။ ဤသည့် ဂုဏ်တော်သုံးပါးမှာ တောင်ဟီးဒ်၏ အဓိက အခြေခံအချက်များပင် ဖြစ်သည်။ များသောအားဖြင့် ဤသည့် ဂုဏ်တော်သုံးပါးကို တိကျမှန်ကန်စွာ နားမလည်၊ သဘောမပေါက်ကြသည့်အတွက် လူများသည် အမှားမှား အယွင်းယွင်း ဖြစ်နေကြပေသည်။ ကြည့်–မာဂျိဒီ။

فَإِذَا مَسَّ الْإِنسَانَ ضُرٌّ
دَعَانَا ثُمَّ إِذَا خَوَّلْنَاهُ
نِعْمَةً مِّنَّا قَالَ إِنَّمَا أُوتِيتُهُ
عَلَىٰ عِلْمٍ ۚ بَلْ هِيَ فِتْنَةٌ وَلَٰكِنَّ
أَكْثَرَهُمْ لَا يَعْلَمُونَ ٤٩

၄၉။ အမှန်စင်စစ်သော်ကား မနုဿလူသားအား ဘေးဒုက္ခတစ်စုံတစ်ရာ ဆိုက်ရောက်ခဲ့သောအခါ ထိုလူသားသည် ငါအရှင်မြတ်အား ဟစ်ခေါ်တမ်းတ၏။ ထို့နောက် ငါအရှင်မြတ်သည် ၎င်းအား မိမိအထံတော်မှ ကျေးဇူးတော်တစ်စုံတစ်ရာကို ချီးမြှင့်ပေးသနားတော်မူသောအခါ ထိုလူသားက *"ငါသည် ဤသည့်ကျေးဇူးတော်ကို (မိမိ)အကြံအစည် တစ်ခုကြောင့်သာလျှင် ရရှိခဲ့ခြင်းဖြစ်သည်"* [၁] ဟု ပြောဆို၏။

ထိုသို့ အလျှင်း မဟုတ်၊ စင်စစ် ဤသည့်ကျေးဇူးတော်မှာကား စမ်းသပ်မှုတစ်ရပ်ပင်တည်း။ သို့ရာတွင် ထိုလူသားတို့အနက် အများဆုံးသောသူတို့မှာ သိရှိကြသည် မဟုတ်ပေ။

قَدْ قَالَهَا الَّذِينَ مِن قَبْلِهِمْ
فَمَا أَغْنَىٰ عَنْهُم مَّا كَانُوا
يَكْسِبُونَ ٥٠

၅၀။ ဧကန်စင်စစ် ဤသည့်ပြောဆိုမှုကို ၎င်းတို့အလျင်ရှိခဲ့ကြသောသူများကလည်း ပြောဆိုခဲ့ဘူးကြကုန်၏။ သို့တစ်စေလည်း ၎င်းတို့၏ဆည်းပူးချက်တို့မှာ (ပြစ်ဒဏ်ကာကွယ်ရန်) ၎င်းတို့အဖို့ အသုံးဝင်ခဲ့သည် မရှိပေ။

---

(၁) မုရှိရစ်က်သည် ကျေးဇူးကန်းလှဘိတကား။ အလ္လာဟ်အရှင်မြတ်သည် မုရှိရစ်က်အားတစ်စုံတစ်ရာ ကျေးဇူးပြုတော်မူပါလျှင် မုရှိရစ်က်သည် အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်ကို လျစ်လျူပြုကာ ကျွန်ုပ်၏ကျွမ်းကျင်မှု၊ ကြံရည်ဖန်ရည်ကောင်းမှုကြောင့် ဤကျေးဇူးကို ရရှိခြင်းဖြစ်သည်ဟူ၍ပင် ကျေးဇူးကန်းစကား ပြောဆိုလေသည်။ အမှန်မှာ အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်မှာ စမ်းသပ်မှုတစ်ရပ်ပင်။ သို့ ကျေးဇူးချီးမြှင့်ခြင်း ခံရသောသူတစ်ဦးသည် ကျေးဇူးတော်ရှင် အစစ်အမှန်အား သိသည်၊မသိသည်၊ ကျေးဇူးသိတတ်သည်၊ ကျေးဇူးကန်းသည်ကို စမ်းသပ်ခြင်းပင်။ ကျေးဇူးတော်ရှင်ကိုသိက၊ ကျေးဇူးသိတတ်က မိမိအဖို့အမြတ်ပင်။ ကျေးဇူးတော်ရှင် အစစ်အမှန်အား မသိက ကျေးဇူးကန်းက မိမိအဖို့အရှုံးပင်။

ခေတ်သစ် မုရှိရစ်က်များသာ ကျေးဇူးကန်းစကား ပြောဆိုကြသည်မဟုတ်။ ကာရူန်၊ ဖိရ်အောင်န်၊ နမ်ရုဒ် စသည့်ခေတ်ဟောင်း ကာဖိရ်၊ မုရှိရစက်များသည်လည်း ဤကဲ့သို့ ကျေးဇူးကန်းစကား ပြောဆိုခဲ့ကြသည်သာ ဖြစ်သည်။

فَاَصَابَهُمْ سَيِّاٰتُ مَا كَسَبُوْا ۗ وَالَّذِيْنَ ظَلَمُوْا مِنْ هٰٓؤُلَاۤءِ سَيُصِيْبُهُمْ سَيِّاٰتُ مَا كَسَبُوْا ۙ وَمَا هُمْ بِمُعْجِزِيْنَ ﴿٥١﴾

၅၁။ ထို့နောက် ၎င်းတို့၌ ၎င်းတို့၏ ဆည်းပူးချက်များ၏ ဆိုးရွားသောအန္တရာယ်များသည် သက်ရောက်ခဲ့လေ၏။ ထိုနည်းတူစွာ ဤ(လက်ရှိသွေဖည်ငြင်းပယ်)သူတို့အနက် မတရားကျူးလွန်ခဲ့ကြသော သူတို့အပေါ်၌လည်း မကြာမြင့်မီပင် ၎င်းတို့၏ဆည်းပူးချက်များ၏ အန္တရာယ်များသည် သက်ရောက်မည်ဖြစ်၏။ စင်စစ်မှာကား ၎င်းတို့သည် (အလ္လာဟ်အရှင်မြတ်အား) မစွမ်းဆောင်နိုင်အောင် ပြုစွမ်းနိုင်ကြသူများမဟုတ်ပေ။

اَوَلَمْ يَعْلَمُوْٓا اَنَّ اللّٰهَ يَبْسُطُ الرِّزْقَ لِمَنْ يَّشَاۤءُ وَيَقْدِرُ ۗ اِنَّ فِيْ ذٰلِكَ لَاٰيٰتٍ لِّقَوْمٍ يُّؤْمِنُوْنَ ﴿٥٢﴾

၅၂။ ၎င်းတို့သည် သိရှိခဲ့ကြသည်မဟုတ်လော။ ဧကန်စင်စစ် အလ္လာဟ်အရှင်သည် မိမိအလိုရှိတော်မူသောသူအား စားနပ်ရိက္ခာကို တိုးပွားစေတော်မူ၏။ ထိုနည်းတူစွာ အရှင်မြတ်သည်ပင် (မိမိ အလိုတော်ရှိတော်မူသော သူအား စားနပ်ရိက္ခာကို) ကျပ်တည်းစေတော်မူ၏။ မလွဲဧကန် ဤသည်၌ သက်ဝင်ယုံကြည်ကြကုန်သောအမျိုးသားတို့အဖို့ သက်သေ အထောက်အထားများ အမှန်ပင် ရှိကြပေသတည်း။ ¹

قُلْ يٰعِبَادِيَ الَّذِيْنَ اَسْرَفُوْا عَلٰٓى اَنْفُسِهِمْ لَا تَقْنَطُوْا مِنْ رَّحْمَةِ اللّٰهِ ۗ

၅၃။ (အို-နဗီတမန်တော်) အသင်သည် (ငါအရှင်မြတ်၏ကိုယ်စား) ပြောကြားပါလေ။ အို-မိမိတို့အပေါ်၌ အလွန်အမင်း လွန်ကျူးခဲ့ကြကုန်သော ငါအရှင်မြတ်၏ ကျွန်အပေါင်းတို့၊ အသင်တို့သည် အလ္လာဟ်အရှင်မြတ်၏ ကရုဏာတော်မှ မျှော်လင့်ချက်မကင်းမဲ့ကြကုန်လင့်။

(၁) လူ့လောကတွင် အချို့သည် စားဝတ်နေရေး ချောင်လည်သည်၊ အချို့သည် စားဝတ်နေရေး ကျပ်တည်းသည်။ စားဝတ်နေရေး ချောင်လည်မှုသည် အလ္လာဟ်အရှင်မြတ် နှစ်သက်တော်မူခြင်း၏ လက္ခဏာလည်းမဟုတ်၊ စားဝတ်နေရေး ကျပ်တည်းမှုသည် ထိုအရှင်မြတ် ဖဲကြဉ်ထားတော်မူခြင်း၏ လက္ခဏာလည်း မဟုတ်။ စားဝတ်နေရေး ချောင်လည်မှုသည် အမြော်အမြင်ရှိမှု၊ ကျွမ်းကျင်မှု၊ လိမ္မာပါးနပ်မှု၊ ကြံရည်ဖန်ရည် ကောင်းမှုတို့အပေါ်၌သာ တည်နေသည်မဟုတ်၊ လူ့လောကတွင် ပညာမဲ့များ၊ လူရှုပ်လူပွေများသည်လည်း ချမ်းသာကြွယ်ဝလျက် ရှိကြပေသည်။ ပညာတတ်၊ အမြော်အမြင်ရှိ၊ ကြံရည်ဖန်ရည် ကောင်းသော၊ ➤➤

إِنَّ اللَّهَ يَغْفِرُ الذُّنُوبَ جَمِيعًا ۚ إِنَّهُ هُوَ الْغَفُورُ الرَّحِيمُ ﴿٥٣﴾

ကေန်မလွဲ အလ္လာဟ်အရှင်မြတ်သည် ပြစ်မှုအလုံးစုံတို့ကို ခွင့်လွှတ်ချမ်းသာ ပေးသနားတော်မူပေမည်။ စင်စစ်ကေန် ထိုအရှင်မြတ်သည်ပင် အလွန်တရာ ခွင့်လွှတ်ချမ်းသာ ပေးသနားတော်မူသောအရှင် အလွန်တရာ သနားကြင်နာ ညှာတာတော်မူသောအရှင် ဖြစ်တော်မူ၏။ ၁

وَأَنِيبُوا إِلَىٰ رَبِّكُمْ وَأَسْلِمُوا لَهُ مِن قَبْلِ أَن يَأْتِيَكُمُ الْعَذَابُ ثُمَّ لَا تُنصَرُونَ ﴿٥٤﴾

၅၄။ ၎င်းပြင် အသင်တို့သည် မိမိတို့ထံ ပြစ်ဒဏ်ဆိုက်ရောက်၍မလာမီပင် မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်ဘက်တော်သို့ ပြန်လှည့်ခြင်းကိုလည်းကောင်း၊ ထိုအရှင်မြတ်၏ အမိန့်တော်များကို လိုက်နာခြင်းကိုလည်းကောင်း၊ ပြုကြလေကုန်။ ထို (ပြစ်ဒဏ်ဆိုက်ရောက်၍လာပြီး) နောက်တွင် အသင်တို့သည် (မည်သည့်) အကူအညီ(ကိုမျှ) ရရှိကြမည် မဟုတ်ပေ။

➤➤ များစွာသော လူတော်လူကောင်းများသည်လည်း ဆင်းရဲနွမ်းပါးလျက် ရှိကြပေသည်။ ဤသည်မျက်မြင်ပင်။ အမှန်မှာဤသည် အလ္လာဟ်အရှင်မြတ်၏ စီရင်ဖန်တီးမှုပင်။ ဤသည့်သဘောကို မုရှ်ရစ်က်များသည် မသိကြပေ။

① **အလ္လာဟ်အရှင်မြတ်၏ ကရုဏာတော်မှ မည်သူမျှ မျှော်လင့်ချက် မကင်းရာ၊**

မဟာကရုဏာတော်ရှင် ဖြစ်တော်မူသော အလ္လာဟ်အရှင်မြတ်သည် ဤအာယတ်တော်တွင် မိမိ၏ ကရုဏာတည်းဟူသော တံခါးကို အမြဲတစေ ဖွင့်ထားတော်မူသည့် အကြောင်း အတိအလင်း ကြေညာထားတော်မူသည်။ ဤအာယတ်တော်သည် ပြစ်မှုဒုစရိုက်များတွင် နစ်မွန်း၍ မျှော်လင့်ချက်ပင် ကင်းမဲ့နေကြသော သူများအဖို့ အလွန်ကြီးမားသော မျှော်လင့်ချက်ကြီးတစ်ရပ်ပင်။

ကာဖိရ်၊ မုရှ်ရစ်က်၊ ဖာစစ်က်၊ အသူပင်ဖြစ်စေ၊ အဘယ်မျှ ကြီးမားသောပြစ်မှုကို ကျူးလွန်မိခဲ့လင့်ကစား ဤအာယတ်တော်ကို ကြားနာရပြီးသည့် နောက်ပိုင်းတွင်မူ အလ္လာဟ်အရှင်မြတ်၏ ကရုဏာတော်မှ လုံးလုံးလျားလျား မျှော်လင့်ချက်ကင်းသွားရန် အကြောင်းမရှိတော့ပြီ။ အဘယ်ကြောင့်ဆိုသော် အလ္လာဟ်အရှင်မြတ်သည် အလိုတော်ရှိပါက အဘယ်မျှကြီးလေးသော အပြစ်ကိုမဆို ကျူးလွန်ထားသူအားလည်း လုံးလုံးလျားလျား ချမ်းသာခွင့်ပေးတော်မူနိုင်ပေသည်။ ဤအာယတ်တော်တွင်လည်း ပြစ်မှုကျူးလွန်ထားမိကြသော မိမိ၏ကျွန်များအား မိမိ၏ကရုဏာတော်မှ မျှော်လင့်ချက် မကင်းကြကုန်လင့်ဟု အတိအလင်း ကြေညာထားတော်မူသည်။

သို့ရာတွင် ဤနေရာ၌ အထူးသိထားအပ်သည်မှာ-အလ္လာဟ်အရှင်မြတ်ကိုယ်တော်တိုင်ကပင် 'ရှရစ်က်' ယှဉ်တွဲကိုးကွယ်မှုကို ချမ်းသာခွင့် ပေးတော်မူမည် မဟုတ်ကြောင်း၊ ထိုမှတစ်ပါး အခြားပြစ်မှုများကိုမူ အလိုတော်ရှိက ချမ်းသာခွင့် ပေးတော်မူမည့်အကြောင်း အတိအလင်း ကြေညာထားတော်မူသည်။ ကြည့်-ကုရ်အာန်(၄:၁၁၆) ➤➤

وَاتَّبِعُوۡۤا اَحۡسَنَ مَاۤ اُنۡزِلَ
اِلَيۡكُمۡ مِّنۡ رَّبِّكُمۡ مِّنۡ قَبۡلِ اَنۡ
يَّاۡتِيَكُمُ الۡعَذَابُ بَغۡتَةً
وَّاَنۡتُمۡ لَا تَشۡعُرُوۡنَ ۙ﴿٥٥﴾

၅၅။ ထိုမှတစ်ပါး အသင်တို့သည် မိမိတို့ထံ ပြစ်ဒဏ်သည် အသင်တို့မသိခိုက်၊ ရုတ်တရက် ဆိုက်ရောက်၍မလာမီပင် မိမိတို့၏ အရှင်မြတ်အထံတော်မှ မိမိတို့ထံ ထုတ်ပြန်တော်မူခြင်း ခံခဲ့ရလေသော အကောင်းဆုံး အမိန့်တော် (ကုရ်အာန်ကျမ်းတော်မြတ်) ကို လိုက်နာ(ကျင့်သုံး)ကြလေကုန်။

اَنۡ تَقُوۡلَ نَفۡسٌ يّٰحَسۡرَتٰى عَلٰى
مَا فَرَّطْتُّ فِىۡ جَنۡۢبِ اللّٰهِ
وَاِنۡ كُنۡتُ لَمِنَ
السّٰخِرِيۡنَ ۙ﴿٥٦﴾

၅၆။ (ဤသည့်အမိန့်တော်ကို ထုတ်ပြန်တော်မူခြင်းမှာ) မည်သူတစ်ဦးတစ်ယောက်မျှပင် "ဩော်- ငါသည် အလ္လာဟ်အရှင်မြတ်၏အမိန့်တော်ကို လိုက်နာခြင်းနှင့်စပ်လျဉ်း၍ ပျက်ကွက်လစ်ဟင်း ပေါ့ဆခဲ့သောကြောင့် ဝမ်းနည်းရလေခြင်း" ဟူ၍ မပြောဆိုနိုင်ရန်လည်းကောင်း။

اَوۡ تَقُوۡلَ لَوۡ اَنَّ اللّٰهَ هَدٰٮنِىۡ
لَـكُنۡتُ مِنَ الۡمُتَّقِيۡنَ ۙ﴿٥٧﴾

၅၇။ သို့တည်းမဟုတ် (မည်သူမဆို) "ဧကန်အမှန် အလ္လာဟ်အရှင်မြတ်သည် ငါ့အား အကယ်၍သာ တရားလမ်းမှန်သို့ ပို့ပေးတော်မူခဲ့ပါလျှင် ငါသည် "မွတ္တကီ" ပြစ်မှုများမှ ကြဉ်ရှောင်ကြကုန်သော သူတော်စင်တို့အနက် အမှန်ပင် အပါအဝင်ဖြစ်ခဲ့ပေမည်" ဟူ၍ မပြောဆိုနိုင်ရန်လည်းကောင်း။

اَوۡ تَقُوۡلَ حِيۡنَ تَرَى
الۡعَذَابَ لَوۡ اَنَّ لِىۡ كَرَّةً
فَاَكُوۡنَ مِنَ الۡمُحۡسِنِيۡنَ﴿٥٨﴾

၅၈။ သို့တည်းမဟုတ် (မည်သူမဆို) ပြစ်ဒဏ်ကို တွေ့မြင်လေသောအချိန်အခါ၌ "ဧကန်မလွဲ ငါသည် အကယ်၍သာ (ကမ္ဘာလောကသို့) တဖန်ပြန်၍ သွားနိုင်လျှင်ကောင်းလေစွ။ သို့ဖြစ်ခဲ့လျှင် ငါသည် သူတော်ကောင်းတို့အနက် အပါအဝင်ဖြစ်ပေမည်" ဟူ၍ မပြောဆိုနိုင်ရန်လည်းကောင်း၊ (ထုတ်ပြန်တော်မူခြင်းဖြစ်၏၊)

➤➤ သို့ဖြစ်ရာ မည်သူမဆို (ရှိရ်က်)ယှဉ်တွဲ ကိုးကွယ်မှုကို ဝေးစွာကြဉ်ရှောင်က၊ ကျူးလွန်မိက အချိန်မီ ဝန်ချတောင်းပန်က အလ္လာဟ်အရှင်မြတ်၏ ဒေသနာတော်များကို အသက်ထက်ဆုံး လိုက်နာကျင့်မှုပါက ထိုအရှင်မြတ်၏ ကရုဏာတော်ကို ခိုလှုံရမည်သာတည်း။

بَلٰى قَدْ جَآءَتْكَ اٰيٰتِيْ فَكَذَّبْتَ بِهَا وَاسْتَكْبَرْتَ وَكُنْتَ مِنَ الْكٰفِرِيْنَ ﴿٥٩﴾

၅၉။ အဘယ်ကြောင့်မဟုတ်သနည်း။ ငါအရှင်မြတ်၏ အမိန့်-အာယတ်တော်များသည် အသင့်ထံသို့ ဧကန်မလွဲ ရောက်ရှိလာခဲ့ပေသည်။ သို့ရာတွင် အသင်သည် ယင်းအမိန့်အာယတ်တော်များကို မဟုတ်မမှန်ဟူ၍ စွပ်စွဲငြင်းပယ်ခဲ့ပေသည်။ ထို့ပြင် အသင်သည် မာန်မာန ထောင်လွှားခဲ့ပေသည်။ ထိုမှတစ်ပါး အသင်သည် "ကာဖိရ်" သွေဖည်ငြင်းပယ်သောသူတို့တွင် အပါအဝင် ဖြစ်ခဲ့ပေသတည်း။

وَيَوْمَ الْقِيٰمَةِ تَرَى الَّذِيْنَ كَذَبُوْا عَلَى اللّٰهِ وُجُوْهُهُمْ مُّسْوَدَّةٌ ؕ اَلَيْسَ فِيْ جَهَنَّمَ مَثْوًى لِّلْمُتَكَبِّرِيْنَ ﴿٦٠﴾

၆၀။ စင်စစ်သော်ကား (အို-နဗီတမန်တော်၊) အသင်သည် "ကိယာမတ်" ရှင်ပြန်ထမည့်နေ့တွင် အလ္လာဟ်အရှင်မြတ်အပေါ်၌ မုသားပြောဆို စွပ်စွဲခဲ့ကြကုန်သောသူတို့အား၊ ၎င်းတို့၏ မျက်နှာတို့မှာ မည်း၍ နေကြသည်ကို တွေ့မြင်ပေမည်။ မာန်မာန ထောင်လွှားကြသောသူတို့၏ နေထိုင်ရာဌာနသည် "ဂျဟန္နမ်" ငရဲဘုံ၌ ရှိသည်မဟုတ်လော။

وَيُنَجِّى اللّٰهُ الَّذِيْنَ اتَّقَوْا بِمَفَازَتِهِمْ ۫ لَا يَمَسُّهُمُ السُّوْٓءُ وَلَا هُمْ يَحْزَنُوْنَ ﴿٦١﴾

၆၁။ ၎င်းပြင် ပြစ်မှုဒုစရိုက်များမှ ကြဉ်ရှောင်ကြကုန်သော "မွတ္တကီ" သူတော်စင်တို့ကိုမူကား အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့၏ အောင်မြင်မှုနှင့်တကွ လွတ်မြောက်စေတော်မူပေမည်။ ၎င်းတို့တွင် ဘေးဒုက္ခသည်လည်း ဆိုက်ရောက်မည် မဟုတ်ပေ။ ထိုမှတစ်ပါး ၎င်းတို့သည် ပူဆွေးကြရမည်လည်း မဟုတ်ပေတကား။

اَللّٰهُ خَالِقُ كُلِّ شَيْءٍ ۫ وَّ هُوَ عَلٰى كُلِّ شَيْءٍ وَّكِيْلٌ ﴿٦٢﴾

၆၂။ အလ္လာဟ်အရှင်မြတ်သည်ပင် အရာရာကို ဖန်ဆင်းတော်မူသော အရှင်ဖြစ်တော်မူသည့်ပြင် ထိုအရှင်မြတ်သည်ပင် အရာခပ်သိမ်းတို့ အပေါ်ဝယ် ထိန်းသိမ်းတော်မူသော အရှင်ဖြစ်တော်မူ၏။

لَهٗ مَقَالِيْدُ السَّمٰوٰتِ وَالْاَرْضِ ۗ وَ الَّذِيْنَ كَفَرُوْا بِاٰيٰتِ اللّٰهِ اُولٰٓئِكَ هُمُ الْخٰسِرُوْنَ ﴿٦٣﴾

၆၃။ မိုးကောင်းကင်များ၏ သော့များသည်လည်းကောင်း၊ ကမ္ဘာမြေ၏ သော့များသည်လည်းကောင်း၊ *ထိုအရှင်မြတ်(၏ လက်တော်တွင်း)၌သာ ရှိကြကုန်၏။* [1] သို့ပါလျက် အကြင်သူတို့သည် အလ္လာဟ်အရှင်မြတ်၏ "အာယတ်" အမိန့်တော်များကို ငြင်းပယ်ခဲ့ကြသည်ရှိသော် ထိုသူတို့သည်သာလျှင် ဆုံးရှုံးသောသူများ ဖြစ်ကြပေမည်။

قُلْ اَفَغَيْرَ اللّٰهِ تَاْمُرُوْٓنِّيْٓ اَعْبُدُ اَيُّهَا الْجٰهِلُوْنَ ﴿٦٤﴾

၆၄။ (အို-နဗီတမန်တော်) အသင်သည် (ဤသို့) ပြောဆို (မေးမြန်း)ပါလေ။ အို-အသိပညာ ကင်းမဲ့သူတို့၊ သို့ပါလျက် ငါသည် အလ္လာဟ်အရှင်မြတ်မှတစ်ပါး အခြားကို ဆည်းကပ်ကိုးကွယ်ရန် အသင်တို့သည် *ငါ့အား တိုက်တွန်းကြလေသလော။* [2]

وَلَقَدْ اُوْحِيَ اِلَيْكَ وَاِلَى الَّذِيْنَ مِنْ قَبْلِكَ ۚ لَئِنْ اَشْرَكْتَ لَيَحْبَطَنَّ عَمَلُكَ وَلَتَكُوْنَنَّ مِنَ الْخٰسِرِيْنَ ﴿٦٥﴾

၆၅။ အမှန်စင်စစ်သော်ကား အသင့်ထံသို့လည်းကောင်း၊ အသင့်အလျှင် (ပွင့်ခဲ့ကြလေသောနဗီတမန်တော်များ)ထံသို့လည်းကောင်း၊ မုချမလွဲ (ဤသို့) "ဝဟ်ယ်" အမိန့်တော်ထုတ်ပြန်ခြင်း ခံခဲ့ရလေ၏။ "အမှန်ပင် အကယ်၍ အသင်သည် (တစ်စုံတစ်ရာကို အလ္လာဟ်အရှင်မြတ်နှင့်) နှိုင်းယှဉ် တွဲဖက်ကိုးကွယ်မှုကို ကျူးလွန်မိခဲ့ပါလျှင် မုချစင်စစ် အသင်၏ ပြုမူကျင့်ဆောင်ချက်တို့သည် အချည်းနှီးဖြစ်သွားမည့်ပြင် ဧကန်မလွဲ အသင်သည် ဆုံးရှုံးကြကုန်သောသူတို့တွင်လည်း အပါအဝင် ဖြစ်ချေမည်။

(၁) အလ္လာဟ်အရှင်မြတ်သည်ပင် အရာခပ်သိမ်းကုန်တို့ကို စတင်ဖန်ဆင်းတော်မူသည်။ သို့ ဖန်ဆင်းတော်မူပြီးနောက် ယင်းအဖန်ဆင်းခံ အရာများကို ထိုအရှင်မြတ်သည်ပင် ထိန်းသိမ်းကာကွယ် စောင့်ရှောက်ထားတော်မူသည်။ အရာခပ်သိမ်းကုန်တို့တွင် ထိုအရှင်မြတ်သည်ပင် အလိုရှိတော်မူသည့်အတိုင်း ချယ်လှယ်တော်မူသည်။ အရာခပ်သိမ်းကုန်တို့ကို ထိုအရှင်မြတ်သည်ပင် ပိုင်ဆိုင်တော်မူသည်။ မြေနှင့်မိုးများ၏ သော့များသည်လည်း ထိုအရှင်မြတ်၏ လက်တော်တွင်း၌သာ ရှိပေသည်။ သို့ဖြစ်ရာ ဤရွေ့ဤမျှ တန်ခိုးတော်အနန္တနှင့် ပြည့်စုံတော်မူသော အလ္လာဟ်အရှင်မြတ်အားသာ ဆည်းကပ် ကိုးကွယ်အပ်ပေသည်။ ထိုသို့သော အရှင်မြတ်၏ အမျက်တော်ကို ➢➢

بَلِ اللّٰهَ فَاعْبُدْ وَكُنْ مِّنَ الشّٰكِرِيْنَ ﴿٦٦﴾

၆၆။ သို့ဖြစ်ပေရာ အသင်သည် ထိုသို့ အလျင်း မပြုဘဲ အလ္လာဟ်အရှင်မြတ်အားသာလျှင် ဆည်းကပ် ကိုးကွယ်ပါလေ။ ထိုမှတစ်ပါး အသင်သည် ကျေးဇူး တော်ကို သိတတ်သောသူတို့တွင် အပါအဝင် ဖြစ် ပါလေ။

وَمَا قَدَرُوا اللّٰهَ حَقَّ قَدْرِهٖ ۖ وَالْاَرْضُ جَمِيْعًا قَبْضَتُهٗ يَوْمَ الْقِيٰمَةِ وَالسَّمٰوٰتُ مَطْوِيّٰتٌۢ بِيَمِيْنِهٖ ۗ سُبْحٰنَهٗ وَتَعٰلٰى عَمَّا يُشْرِكُوْنَ ﴿٦٧﴾

၆၇။ စင်စစ်သော်ကား ထိုသူတို့သည် အလ္လာဟ် အရှင်မြတ်အား ကြည်ညိုလေးစားအပ်သည့် နည်း အတိုင်း *ကြည်ညိုလေးစားခြင်း မပြုခဲ့ကြပေ။* [၁] စင်စစ်မှာကား "ကိယာမတ်" ရှင်ပြန်ထမည့်နေ့တွင် ကမ္ဘာမြေတစ်ခုလုံးမှာ ထိုအရှင်မြတ်၏ လက်တစ်ဆုပ် စာပင် ရှိမည်သာမက၊ မိုးကောင်းကင်များမှာလည်း *ထိုအရှင်မြတ်၏ လက်ယာလက်တော်တွင်းဝယ် လိပ် ထားလျက်ပင် ရှိကြပေမည်။* [၂] ထိုအရှင်မြတ်မှာမူကား ၎င်းတို့ တွဲဖက် နှီးယှဉ် ကိုးကွယ်ကြသည်တို့မှ (လုံးဝ) စင်ကြယ်သန့်ရှင်းတော်မူသည့်ပြင် ထိုအရှင်မြတ် သည် (ထိုအရာတို့ထက် အတိုင်းမရှိ) မြင့်မြတ်လှတော် မူပေသတည်း။

---

➤➤ ကြောက်အပ်ပေသည်။ ထိုသို့သော အရှင်မြတ်၏ ကရုဏာတော်ကို ခိုလှုံရာသည်။

(၂) အလ္လာဟ်အရှင်မြတ်အား စွန့်ပယ်၍ အခြားအချည်းနှီးသော အရာများကို ဆည်းကပ်ကိုးကွယ်ခြင်းသည် အသိအလိမ္မာ ဉာဏ်ပညာကင်းမဲ့ခြင်း၊ မိုက်မဲခြင်းပင်။ ထိုမျှမကသေး အချို့မုရှ်ရစ်က်များသည် တမန်တော်မြတ် အားပင် ၎င်းတို့၏လမ်းစဉ်ပေါ်သို့ ရောက်ရှိလာရန်ကိုးကားခဲ့ကြ၏။ အချို့ (ရိဝါယတ်) ကျမ်းချက်များတွင် မုရှ်ရစ်က်များသည် တမန်တော်မြတ်အား ၎င်းတို့၏အချည်းနှီးသော အရုပ်များကို ဆည်းကပ်ကိုးကွယ်ရန် ဖိတ်ကြားခဲ့သည်ဟူ၍ လာရှိသည်။ ထိုအခါ ဤအာယတ်တော် ကျရောက်လာခဲ့ပေသည်။

(၁) အလ္လာဟ်အရှင်မြတ်အား ထိုအရှင်မြတ်နှင့် လျော်ကန်သည့် ကြည်ညိုလေးစားခြင်းမျိုးကိုမူ မည်သူမျှမပြုနိုင်ပေ။ သို့ရာတွင် လူသားတို့သည် မိမိတို့အနေဖြင့် မိမိတို့၌ တာဝန်ရှိသည်နှင့်အညီ အစွမ်းရှိသမျှ ကြည်ညိုလေးစား ကြရမည်သာဖြစ်သည်။ ထို မုရှ်ရစ်က်များသည် ထိုအရှင်မြတ်အား ဤမျှပင် မလေးစားခဲ့ကြပေ။

(၂) ကမ္ဘာသက်တမ်း ကုန်ဆုံး၍ ကမ္ဘာကြီးကို လက်ရှိပုစ္ဆက္ခမှ နောင်တမလွန်ဘဝသို့ ပြောင်းလဲရန် အချိန်ကျရောက် လာသောအခါ အလ္လာဟ်အရှင်မြတ်သည် အတိုင်းမသိ ကြီးမားမြင့်စွင့်သော မိုးကောင်းကင်များကိုပင် စက္ကူပမာ လိပ်ခေါက်၍ ထားတော်မူမည်ဖြစ်သည်။ အတိုင်းမသိ ထုထည်ကြီးမားလှသော ကမ္ဘာမြေကြီးသည် ➤➤

وَنُفِخَ فِي الصُّورِ فَصَعِقَ مَن فِي السَّمٰوٰتِ وَمَن فِي الْأَرْضِ إِلَّا مَن شَاءَ اللّٰهُ ثُمَّ نُفِخَ فِيهِ أُخْرَىٰ فَإِذَا هُمْ قِيَامٌ يَنظُرُونَ ﴿٦٨﴾

၆၈။ ထိုမှတစ်ပါး တံပိုး ခရာမှုတ်သောအခါ အလ္လာဟ်အရှင်မြတ် အလိုရှိတော်မူသောသူမှတစ်ပါး မိုးကောင်းကင်များ၌ ရှိကြကုန်သောသူတို့သည်လည်းကောင်း၊ ပထဝီမြေ၌ရှိကြကုန်သောသူတို့သည်လည်းကောင်း၊ သတိမေ့၍ သွားကြပေမည်။ ထို့နောက် တဖန် ယင်းတံပိုးကိုမှုတ်ခဲ့ပြန်သော် ၎င်းတို့မှာ ရုတ်တရက် မတ်တပ်ရပ်လျက် ကြည့်နေကြပေမည်။ [၁]

وَأَشْرَقَتِ الْأَرْضُ بِنُورِ رَبِّهَا وَوُضِعَ الْكِتٰبُ وَجِايْٓءَ بِالنَّبِيّٖنَ وَالشُّهَدَاءِ وَقُضِيَ بَيْنَهُم بِالْحَقِّ وَهُمْ لَا يُظْلَمُونَ ﴿٦٩﴾

၆၉။ ၎င်းပြင် ပထဝီမြေမှာ ၎င်းကို ဖန်ဆင်းတော်မူသောအရှင်မြတ်၏ ရောင်ခြည်တော်ကြောင့် လင်းထိန်၍သွားပေမည်။ ထို့ပြင် မှတ်တမ်းစာအုပ်များသည်လည်း (အဆင်သင့်)ထားရှိပြီး ဖြစ်ကြပေမည်။ ထိုမှတစ်ပါး နဗီတမန်တော်တို့သည်လည်းကောင်း၊ "ရှဟီးဒ်" (အလ္လာဟ်အရှင်မြတ်၏လမ်းတော်၌ ကျဆုံးခဲ့ကြရသောသူ)တို့သည်လည်းကောင်း၊ (ရှေ့တော်မှောက်သို့) ရောက်လာကြရပေမည်။ ထို့ပြင် ၎င်းတို့၏အကြားဝယ် တိကျမှန်ကန်စွာ စီရင်ဆုံးဖြတ်ပြီး ဖြစ်ချေမည်။ သို့ရာတွင် ၎င်းတို့မှာ (အနည်းငယ်စိုးစဉ်းမျှပင်) မတရားပြုလုပ်ခြင်းကို ခံကြရမည်မဟုတ်ပေ။ [၂]

➤➤ အလ္လာဟ်အရှင်မြတ်၏ လက်တစ်ဆုပ်အတွင်း၌ပင် ရောက်ရှိနေပေမည်။ စကြာဝဠာကြီးတစ်ခုလုံးကို ပြောင်းလဲရန်ကိစ္စမှာ အလ္လာဟ်အရှင်မြတ်အဖို့ အသို့မျှ အခက်အခဲမရှိ။ လက်တွင်းရှိစက္ကူပမာ၊ လွယ်ကူစွာ လိပ်ခေါက်ထားတော်မူနိုင်သည်။ လက်တွင်းရှိရေပမာ လွယ်ကူစွာ မှောက်လှန်တော်မူနိုင်သည်။ အလ္လာဟ်အရှင်မြတ်၏ တန်ခိုးတော်နှင့် ဂုဏ်တော်များကား အတိုင်းမသိ ကြီးမားပါဘိတကား။

(၁) အများ မုဖတ်စ်စိရ်များ၏ ယူဆချက်အရ ကိယာမတ်ဖြစ်သည့်အခါ အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်အရ သက်ဆိုင်ရာ ကောင်းကင်တမန်သည် တံပိုးနှစ်ကြိမ်မှုတ်မည်။ ပထမတစ်ကြိမ် တံပိုးမှုတ်လိုက်သည့်အခါ အားလုံးတို့သည် သတိလစ်သွားကြပေမည်။ ထို့နောက် အသက်ရှင်နေသူ အားလုံးတို့သည် သေသွားကြပေမည်။ သေနှင့်ပြီးဖြစ်သောသူ အားလုံးတို့၏ အသက်ဇီဝိန်များသည် မေ့မြောသွားကြပေမည်။ ဒုတိယအကြိမ် တံပိုးမှုတ်လိုက်သည့်အခါ သူသေများ၏ အသက်ဇီဝိန်များသည် ကိုယ်ခန္ဓာများနှင့် ပြန်လည် ဆက်စပ်သွားကြပေမည်။ မေ့မြောနေသူများသည် ပြန်လည် သတိရရှိလာပေမည်။ ထိုအခါ အသီးသီး သင်္ချိုင်းများမှ ထွက်လာကြပြီးလျှင် "မဟ်ရှရ်" ခေါ် ကမ္ဘာပြန်လည်စုရုံးရာ ကွင်းပြင်ကြီး၏ အံ့ဖွယ်သရဲ မြင်ကွင်းများကို အံ့သြကြီးစွာဖြင့် ➤➤

وَوُفِّيَتْ كُلُّ نَفْسٍ مَّا عَمِلَتْ وَهُوَ أَعْلَمُ بِمَا يَفْعَلُونَ ﴿٧٠﴾

၇၀။ ထိုမှတစ်ပါး လူတိုင်းလူတိုင်းသည် မိမိတို့ ကျင့်မှုပြုလုပ်ခဲ့ကြသည်တို့၏အစားကို အပြည့်အစုံ ပေးဆပ်ခြင်းကို ခံကြရပေမည်။ အမှန်စင်စစ်သော်ကား ထိုအရှင်မြတ်သည် ၎င်းတို့ပြုလုပ်သမျှတို့ကို အသိတော်မူဆုံးပင် ဖြစ်တော်မူပေသတည်း။

وَسِيقَ الَّذِينَ كَفَرُوا إِلَىٰ جَهَنَّمَ زُمَرًا ۖ حَتَّىٰ إِذَا جَاءُوهَا فُتِحَتْ أَبْوَابُهَا وَقَالَ لَهُمْ خَزَنَتُهَا أَلَمْ يَأْتِكُمْ رُسُلٌ مِّنكُمْ يَتْلُونَ عَلَيْكُمْ آيَاتِ رَبِّكُمْ وَيُنذِرُونَكُمْ لِقَاءَ يَوْمِكُمْ هَٰذَا ۚ

၇၁။ စင်စစ်သော်ကား "ကာဖိရ်" သွေဖည် ငြင်းပယ်ခဲ့ကြကုန်သော သူတို့သည် "ဂျဟန္နမ်" ငရဲဘုံသို့ အုပ်စုလိုက် မောင်းနှင်ခြင်းကို ခံကြရပေမည်။ နောက်ဆုံးတွင် ၎င်းတို့သည် ယင်း "ဂျဟန္နမ်" ငရဲဘုံသို့ ရောက်ရှိလာခဲ့ကြသောအခါ ယင်း "ဂျဟန္နမ်" ငရဲဘုံ၏ တံခါးများသည် ဖွင့်ပေးခြင်းကို ခံကြရပေမည်။ ထိုမှတစ်ပါး ယင်း "ဂျဟန္နမ်"ငရဲဘုံကို စောင့်ကြပ်သူ (ကောင်းကင်တမန်)တို့က ၎င်းတို့အား "အသင်တို့ထံ အသင်တို့အနက်မှပင် အကြင် "ရစူလ်" တမန်တော်များ ရောက်ရှိလာခဲ့ကြသည် မဟုတ်လော၊ ထိုရစူလ်တမန်တော်များသည် အသင်တို့ ရှေ့ဝယ် အသင်တို့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်၏အာယတ်တော်များကိုလည်း ဖတ်ကြားခဲ့ကြလေ၏။ ထိုမှတစ်ပါး အသင်တို့အား ဤနေ့နှင့် အသင်တို့ ဆုံစည်းကြရမည်ကိုလည်း သတိပေးနှိုးဆော်ကြကုန်၏။" ဟု ပြောဆိုကြပေမည်။

---

➤➤ ငေးငိုင်ကြည့်နေကြပေမည်။ ထို့နောက် အလ္လာဟ်အရှင်မြတ်၏ ရှေ့တော်မှောက်သို့ လျင်မြန်စွာ ခေါ်ဆောင် သွတ်သွင်းခြင်းကို ခံကြရပေမည်။

(၂) ထို့နောက် အလ္လာဟ်အရှင်မြတ် ကိုယ်တော်တိုင် မိမိဂုဏ်တော်နှင့် လျော်ညီစွာ ကြွရောက်လာတော်မူပေမည်။ ထိုအခါ 'မဟ်ရှ်ရ်' ကွင်းပြင်ကြီးသည် အလ္လာဟ်အရှင်မြတ်၏ ရောင်ခြည်တော်ဖြင့် လင်းဝင်းသွားပေမည်။ မှတ်တမ်းများ အသင့်ရောက်ရှိလာပေမည်။ တမန်တော်မြတ်များနှင့် သက်ဆိုင်ရာ သက်သေများလည်း အသင့်ရောက်ရှိလာကြပေမည်။ အားလုံးတို့သည် တရားသဖြင့် စီရင်ဆုံးဖြတ်တော်မူခြင်းကို ခံကြရပေမည်။ မတရားပြုမှုခြင်းကို အနည်းငယ် စိုးစဉ်းမျှပင် ခံကြရမည် မဟုတ်ပေ။

قَالُوا بَلَىٰ وَلَٰكِنْ حَقَّتْ كَلِمَةُ
الْعَذَابِ عَلَى الْكَافِرِينَ ﴿٧١﴾

(ထိုအခါ) ၎င်းတို့က ဟုတ်ပေသည်။ သို့ရာတွင် "ကာဖိရ်" သွေးဖည်ငြင်းပယ်ကြကုန်သော သူတို့အပေါ်၌ ပြစ်ဒဏ်၏ အမိန့်တော်သည် အတည်ဖြစ်ခဲ့ချေပြီ" ဟု ပြောဆို (ပြန်ကြား)ခဲ့ကြပေမည်။

قِيلَ ادْخُلُوا أَبْوَابَ جَهَنَّمَ
خَالِدِينَ فِيهَا ۖ فَبِئْسَ
مَثْوَى الْمُتَكَبِّرِينَ ﴿٧٢﴾

၇၂။ (ထိုရောအခါဝယ် ၎င်းတို့မှာ) အသင်တို့သည် "ဂျဟန္နမ်ငရဲဘုံ၏တံခါးများအတွင်းသို့ အမြဲထာဝစဉ် နေထိုင်ကြရမည့်သူများအဖြစ် ဝင်ရောက်ကြလေကုန်" ဟူ၍ ပြောဆိုခြင်းကို ခံကြရပေမည်။ စင်စစ်မှာကား မာန်မာန ထောင်လွှားကြကုန်သောသူတို့၏ နေထိုင်ရာဌာနသည် လွန်စွာ ဆိုးရွားလှပေသတည်း။

وَسِيقَ الَّذِينَ اتَّقَوْا رَبَّهُمْ
إِلَى الْجَنَّةِ زُمَرًا ۖ حَتَّىٰ إِذَا
جَاءُوهَا وَفُتِحَتْ أَبْوَابُهَا
وَقَالَ لَهُمْ خَزَنَتُهَا سَلَامٌ
عَلَيْكُمْ طِبْتُمْ فَادْخُلُوهَا
خَالِدِينَ ﴿٧٣﴾

၇၃။ ထိုမှတစ်ပါး မိမိတို့ကို ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်အား ကြောက်ရွံ့ကြကုန်သူတို့မှာ "ဂျန္နတ်" သုခဘုံသို့ အုပ်စုလိုက်၊ အုပ်စုလိုက် ပို့ပေးခြင်းကို ခံကြရပေမည်။[၁] နောက်ဆုံးတွင် ထိုသူတို့သည် ယင်း"ဂျန္နတ်" သုခဘုံသို့ ရောက်ရှိလာခဲ့ကြပေမည်။ ယင်း "ဂျန္နတ်" သုခဘုံ၏ တံခါးများသည် (ယခင်ကတည်းက) ပွင့်လျက်ရှိပေမည်။ ၎င်းနောက် ယင်း "ဂျန္နတ်" သုခဘုံကို စောင့်ကြပ်သူ (ကောင်းကင်တမန်)တို့က ၎င်းတို့အား "ချမ်းမြေ့သာယာမှုသည် အသင်တို့အပေါ်ဝယ် ကျရောက်ပါစေသတည်း။ အသင်တို့သည် စင်ကြယ်သန့်ရှင်းခဲ့ကြပြီးဖြစ်ပေရာ ယင်း "ဂျန္နတ်" သုခဘုံသို့ အမြဲထာဝစဉ် နေထိုင်ကြရမည့်သူများအဖြစ် ဝင်ရောက်ကြလေကုန်" ဟု ပြောဆိုခဲ့ကြပေမည်။[၂]

---

(၁) အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ရိုသေ ခန့်ညားကြကုန်သော မုစ်လင်မ်သူတော်စင်များသည် ကိယာမတ်နေ့တွင် ဂုဏ်အသေရေရှိ ဧည့်သည်တော်များနှယ်၊ အုပ်စုလိုက်အုပ်စုလိုက် ဂျန္နတ် အမတသုခဘုံသို့ ပင့်ဖိတ်ခေါ်ဆောင်သွားခြင်းကို ခံကြရပေမည်။ "အီမာန်"ယုံကြည်မှုနှင့် 'တာက္ကဝါ' ကြောက်ရွံ့ရိုသေ ခန့်ညားမှုတွင် ➢➢

وَقَالُوا الْحَمْدُ لِلَّهِ الَّذِي صَدَقَنَا وَعْدَهُ وَأَوْرَثَنَا الْأَرْضَ نَتَبَوَّأُ مِنَ الْجَنَّةِ حَيْثُ نَشَاءُ فَنِعْمَ أَجْرُ الْعَامِلِينَ ﴿٧٤﴾

၇၄။ (ထိုရောအခါဝယ်) ထို(သူတော်စင်)တို့က ချီးမွမ်းထောပနာအပေါင်းတို့သည် အကြင် အလ္လာဟ် အရှင်မြတ်နှင့်သာသက်ဆိုင်၏။ ထိုအရှင်မြတ်သည် ကျွန်တော်မျိုးတို့နှင့်ပတ်သက်၍ မိမိထားရှိတော်မူခဲ့သောကတိကို မှန်ကန်စေတော်မူခဲ့သည့်ပြင် ဤ ("ဂျန္နတ်" သုခဘုံ၏)မြေကို ကျွန်တော်မျိုးတို့အား အမွေအဖြစ် ပိုင်ဆိုင်စေတော်မူပြီးဖြစ်ရာ ကျွန်တော်မျိုးတို့မှာ "ဂျန္နတ်" သုခဘုံတွင် မိမိတို့အလိုရှိရာ နေရာများ၌ နေထိုင်နိုင်ကြပေသည်"ဟု (ဝမ်းမြောက်စွာ) ပြောဆိုကြပေမည်။ စင်စစ်မှာကား အားထုတ်သူတို့၏ အကျိုးကျေးဇူးသည် လွန်စွာ ကောင်းမြတ်လှပေတကား။[၁]

➤➤ အဆင့်အတန်း အမျိုးမျိုးအစားစား ရှိပေရာ၊ မုစ်လင်မ်များသည်လည်း သူ့အဆင့်နှင့်သူ အုပ်စုအသီးသီး ဖြစ်ကာ ကိုယ့်အုပ်စုနှင့်ကိုယ် ပျော်ရွှင်စွာ ဂျန္နတ်သို့ ဝင်စံမြန်းကြပေမည်။

(၂) လူ့လောကတွင် ဧည့်ခံမင်္ဂလာပ်သို့ ကြွရောက်လာကြသော ဧည့်သည်တော်များအား သက်ဆိုင်ရာ ဧည့်ခံကြိုဆိုရေး အဖွဲ့များက ရွှင်ပြုံးသောမျက်နှာဖြင့် နှုတ်ခွန်းဆက်သ၍ ခရီးဦးကြိုပြုကြသကဲ့သို့ ကိယာမတ်နေ့တွင် မုစ်လင်မ် သူတော်စင်များ ဂျန္နတ်သို့ ဝင်ကြသည့်အခါ ဂျန္နတ်မှူးများဖြစ်ကြသော ကောင်းကင်တမန်များက ခရီးဦးကြိုပြုကာ မေတ္တာပို့သကြမည်၊ နှုတ်ခွန်း ဆက်သကြမည်၊ ချီးမွမ်းစကား ပြောကြားကြမည်၊ ဂျန္နတ်တွင် အမြဲထာဝစဉ် စံမြန်းကြပါကုန်ဟူ၍ ကောင်းချီးသတင်းပေးကြမည်။

(၁) မုစ်လင်မ် သူတော်စင်များသည် လူ့လောကတွင် ရှိနေခဲ့ကြစဉ်က တမန်တော်များမှတစ်ဆင့် အလ္လာဟ်အရှင်မြတ် ထားရှိတော်မူခဲ့သော ကတိတော်များကို ယခု ဂျန္နတ်တွင် မျက်ဝါးထင်ထင် တွေ့မြင်ကြရသောအခါ အလ္လာဟ်အရှင်မြတ်၏ ကတိတော်သည် မှန်ကန်ပါဘိတကား၊ အလ္လာဟ်အရှင်မြတ်သည် ကတိတော်အတိုင်း ကျွန်တော်မျိုးတို့အား ဂျန္နတ်တွင် စံမြန်းခွင့်ပြုတော်မူလေပြီတကား၊ ကျွန်တော်မျိုးတို့သည် ဂျန္နတ်တွင် အလိုရှိရာဌာနများ၌ လွတ်လပ်စွာ နေနိုင်ကြပါပြီတကားဟု ကျူးရင့်ကာ အလ္လာဟ်အရှင်မြတ်အား ချီးမွမ်းထောပနာ ပြုကြပေမည်။ အူလိုက်သည်းလိုက် ကျေးဇူးတင်ကြပေမည်။

وَتَرَى الْمَلَٰٓئِكَةَ حَآفِّينَ مِنْ حَوْلِ الْعَرْشِ يُسَبِّحُونَ بِحَمْدِ رَبِّهِمْ ۖ وَقُضِيَ بَيْنَهُم بِالْحَقِّ وَقِيلَ الْحَمْدُ لِلَّهِ رَبِّ الْعَٰلَمِينَ ﴿٧٥﴾

၇၅။ ထိုမှတစ်ပါး (အို-နဗီတမန်တော်) အသင်သည် "မလာအိကဟ်" ကောင်းကင်တမန်တို့အား "အရ်ရှ်" ပလ္လင်တော်၏ပတ်လည်၌ ဝန်းရံလျက် မိမိတို့ကို ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်အား ချီးမွမ်းထောပနာပြုခြင်းနှင့်တကွ (ထိုအရှင်မြတ်) စင်ကြယ်သန့်ရှင်းတော်မူကြောင်း မြွက်ဆိုလျက်ရှိကြသည်ကို တွေ့မြင်ရပေမည်။

ထို့ပြင် ထို(လူသား)တို့၏ အကြားဝယ် တိကျမှန်ကန်စွာ (စစ်ဆေး)စီရင်ဆုံးဖြတ်ပြီး ဖြစ်ပေမည်။ ထိုမှတစ်ပါး "ချီးမွမ်းထောပနာ အပေါင်းတို့သည် စကြာဝဠာခပ်သိမ်းတို့ကို ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်နှင့်သာ သက်ဆိုင်သည်" ဟူ၍ ပြောဆို(ချီးကျူးသြဘာပေး)ခြင်းကို ကြားရပေအံ့သတည်း။

# အီမာန်ယုံကြည်သူကဏ္ဍ



ဤကဏ္ဍသည် 'မုအ်မင်န်' အီမာန် ယုံကြည်သူ ကဏ္ဍမည်၏။
မက္ကာမြို့တော်၌ ကျရောက်ခဲ့၏။
ဤကဏ္ဍတွင် အာယတ်တော် (၈၅)ပါး၊ (ရုကူအ်) အပိုဒ် (၉)ပိုဒ် အသီးသီးပါရှိ၏။

بِسۡمِ اللّٰهِ الرَّحۡمٰنِ الرَّحِيۡمِ

မပြတ်မစဲ သနားကြင်နာ ညှာတာတော်မူသော အနန္တကရုဏာတော်ရှင် ဖြစ်တော်မူသော အလ္လာဟ်အရှင်မြတ်၏ နာမံတော်ဖြင့် အစပြုပါ၏။

حٰمٓ ①

၁။ ဟာ၊ မီမ်။

تَنۡزِيۡلُ الۡكِتٰبِ مِنَ اللّٰهِ الۡعَزِيۡزِ الۡعَلِيۡمِ ②

၂။ ဤသည် လွန်စွာ နိုင်နင်းလွှမ်းမိုးတော်မူသော အလွန်တရာ အသိပညာနှင့် ပြည့်စုံတော်မူသော အလ္လာဟ်အရှင်မြတ်ထံတော်မှ ချပေးသနားတော်မူသော ကျမ်းဂန်ပင် ဖြစ်ပေသည်။

غَافِرِ الذَّنۡۢبِ وَقَابِلِ التَّوۡبِ شَدِيۡدِ الۡعِقَابِ ذِى الطَّوۡلِ ؕ لَاۤ اِلٰهَ اِلَّا هُوَ ؕ اِلَيۡهِ الۡمَصِيۡرُ ③

၃။ (ထိုအရှင်မြတ်သည်) ပြစ်မှုဒုစရိုက်များကို ခွင့်လွှတ်ချမ်းသာ ပေးတော်မူသောအရှင်၊ ဝန်ချတောင်းပန်ခြင်းကို သဘောတူ လက်ခံတော်မူသော အရှင်၊ ပြင်းထန်စွာ ပြစ်ဒဏ်စီရင်တော်မူသော အရှင်၊ စွမ်းရည်သတ္တိနှင့်ပြည့်စုံတော်မူသော (ရက်ရောစွာ ပေးကမ်းစွန့်ကြဲတော်မူသော)အရှင် ဖြစ်တော်မူ၏။ ထိုအရှင်မြတ်မှတစ်ပါး ဆည်းကပ်ကိုးကွယ်ရာ အရှင်ဟူ၍ အလျင်းမရှိပေ။ နောက်ဆုံး ပြန်လည်ရာစခန်းသည် ထိုအရှင်မြတ်အထံတော်၌ပင်ဖြစ်ပေသတည်း။[၁]

---

(၁) ဤကျမ်းဂန်မှာ သာမန်ကျမ်းဂန်မဟုတ်။ အရာရာကို နိုင်နင်းလွှမ်းမိုးတော်မူသော၊ အရာရာကို အကြွင်းမဲ့ သိတော်မူသော၊ ပြစ်မှုများကို ခွင့်လွှတ်တော်မူသော၊ ဝန်ချတောင်းပန်မှုကို လက်ခံသဘောတူတော်မူသော၊ ပြင်းထန်စွာ ပြစ်ဒဏ်ခတ်တော်မူသော၊ အရာရာကို ပြုစွမ်းတော်မူနိုင်သော၊ အလ္လာဟ်အရှင်မြတ်၏ ကျမ်းဂန် ဖြစ်တော်မူသည်။ ထိုအရှင်မြတ်မှတစ်ပါး အခြားကိုးကွယ်ရာဟူ၍ အလျှင်းမရှိပြီ။ အားလုံးတို့သည် ➤➤

٤ مَا يُجَادِلُ فِيٓ اٰيٰتِ اللّٰهِ اِلَّا الَّذِيْنَ كَفَرُوْا فَلَا يَغْرُرْكَ تَقَلُّبُهُمْ فِي الْبِلَادِ ④

၄။ အလ္လာဟ်အရှင်မြတ်၏ အာယတ် အမိန့်တော်များနှင့်စပ်လျဉ်း၍ "ကာဖိရ်" သွေဖည်ငြင်းပယ်သောသူတို့သည်သာလျှင် အငြင်းအခုံ ပြုလေ့ရှိကြကုန်၏။ သို့ဖြစ်ပေရာ (အို-နဗီတမန်တော်) တိုင်းပြည်နိုင်ငံများတွင် ၎င်းတို့၏ လှည့်ပတ်သွားလာ လှုပ်ရှားမှုသည် အသင့်အား ဖြားယောင်းခြင်း မရှိစေရ။ ¹

٥ كَذَّبَتْ قَبْلَهُمْ قَوْمُ نُوْحٍ وَّالْاَحْزَابُ مِنْۢ بَعْدِهِمْ وَهَمَّتْ كُلُّ اُمَّةٍۢ بِرَسُوْلِهِمْ لِيَاْخُذُوْهُ وَجٰدَلُوْا بِالْبَاطِلِ لِيُدْحِضُوْا بِهِ الْحَقَّ فَاَخَذْتُهُمْ فَكَيْفَ كَانَ عِقَابِ ⑤

၅။ ဤသူတို့အလျင် (နဗီတမန်တော်) "နူးဟ်" ၏အမျိုးသားတို့သည်လည်းကောင်း၊ ထို "နူးဟ်"၏ အမျိုးသားတို့၏နောက်တွင် (ပေါက်ဖွားခဲ့သော)အုပ်စုများသည်လည်းကောင်း၊ (ရစူလ်တမန်တော်များအား) မဟုတ်မမှန်ဟူ၍ စွပ်စွဲငြင်းပယ်ခဲ့ကြပေသည်။ ထို့ပြင် အုပ်စုတိုင်းသည် မိမိတို့(ထံ ပွင့်ရောက်ခဲ့သော) ရစူလ်တမန်တော်အား ဖမ်းဆီးရန် ကြံရွယ်ခဲ့ကြသည့်ပြင် ၎င်းတို့သည် အမှားကို လက်ကိုင်ထား၍ ယင်းအမှားဖြင့် အမှန်ကို တိမ်းပါးစေအံ့သောငှာ (ရစူလ်တမန်တော်များနှင့်) အငြင်းအခုံ ပြုခဲ့ကြလေသည်။ သို့ဖြစ်ပေရာ ငါအရှင်မြတ်သည် ၎င်းတို့အား ဖမ်းဆီးကွပ်မျက်ခဲ့ပေသည်။ ထို့နောက် ငါအရှင်မြတ်၏ အပြစ်ဒဏ်သည် မည်သို့ရှိခဲ့ဘိသနည်း။

➤➤ ထိုအရှင်မြတ်ထံတော်သို့ ပြန်လည်ရောက်ကြရမည် ဖြစ်သည်။ သို့ဖြစ်ရာ ထိုသို့သော ဂုဏ်တော်များနှင့် ပြည့်စုံတော်မူသော အလ္လာဟ်အရှင်မြတ်အား ယုံကြည်ကိုးကွယ်၍ ထိုအရှင်မြတ်၏ ကျမ်းဂန်လာ ဒေသနာတော်များကို ဦးထိပ် ပန်ဆင်ရန်သာ ရှိသည်။ ငြင်းခုံရန်အကြောင်း အလျှင်းမရှိပြီ။

① အလ္လာဟ်အရှင်မြတ်၏ ဒေသနာတော်များနှင့် စပ်လျဉ်း၍ ကာဖိရ်များသာလျှင် အငြင်းအခုံ ပြုကြပေသည်။ ယင်းသို့ အငြင်းအခုံပြုသော ကာဖိရ်များသည် နောက်ဆုံးတွင် ပျက်စီးဆုံးရှုံးကြရမည်သာ ဖြစ်သည်။ ၎င်းတို့သည် မြို့ရွာများတွင် သွားလာလှုပ်ရှားနေကြသည်။ ဤသည်ကိုကြည့်၍ အထင်မမှားရာ။ အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့အား ခေတ္တလျစ်လျူပြုထားတော် မူခြင်းသာလျှင်ဖြစ်သည်။ ၎င်းတို့သည် သွားလာလှုပ်ရှား၍ ခေတ္တခဏ လောကီစည်းစိမ်များကို ခံစားကြပါစေ၊ အမှန်တရားကို ဆန့်ကျင်ရန် ကြံစည်ကြပါစေ။ ဤသည့် အဖျက်လုပ်ငန်းများတွင်ပင် နစ်မွန်း၍နေကြပါစေ။ တစ်ရက် အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့အား ထိရောက်စွာ ➤➤

وَكَذٰلِكَ حَقَّتۡ كَلِمَتُ رَبِّكَ عَلَى الَّذِيۡنَ كَفَرُوۡۤا اَنَّهُمۡ اَصۡحٰبُ النَّارِ ۘ﴿۶﴾

၆။ စင်စစ်သော်ကား ဤနည်းအတိုင်းပင် "ကာဖိရ်" သွေဖည်ငြင်းပယ်သူတို့နှင့်ပတ်သက်၍ "ဧကန်အမှန် ၎င်းတို့သည် ငရဲသားများ ဖြစ်ကြသည်" ဟူသော အသင့်အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ် (မိန့်ကြားတော်မူခဲ့သော) အမိန့်တော်သည် အတည် ဖြစ်ခဲ့ချေပြီတကား။ [၁]

اَلَّذِيۡنَ يَحۡمِلُوۡنَ الۡعَرۡشَ وَمَنۡ حَوۡلَهٗ يُسَبِّحُوۡنَ بِحَمۡدِ رَبِّهِمۡ وَيُؤۡمِنُوۡنَ بِهٖ وَيَسۡتَغۡفِرُوۡنَ لِلَّذِيۡنَ اٰمَنُوۡا ۚ

၇။ "အရ်ရှ်" ပလ္လင်တော်ကို ထမ်းဆောင်လျက် ရှိကြကုန်သော ("မလာအိကဟ်"ကောင်းကင်တမန်) တို့သည်လည်းကောင်း၊ ယင်း "အရ်ရှ်" ပလ္လင်တော်၏ ပတ်လည်ဝန်းကျင်၌ရှိကြကုန်သော ("မလာအိကဟ်" ကောင်းကင်တမန်)တို့သည်လည်းကောင်း၊ မိမိတို့ကို ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်အား ချီးမွမ်း ထောပနာပြုခြင်းနှင့်တကွ (ထိုအရှင်မြတ်) စင်ကြယ် သန့်ရှင်းတော်မူကြောင်း မြွက်ဆိုလျက် ရှိကြကုန်၏။ ထို့ပြင် ထိုကောင်းကင်တမန်တို့သည် ထိုအရှင်မြတ်အား သက်ဝင်ယုံကြည်ကြကုန်၏။ ထိုမှတစ်ပါး ၎င်းတို့သည် မုအ်မင်န် သက်ဝင်ယုံကြည်သောသူတို့အဖို့ (ဤသို့) လွတ်ငြိမ်းချမ်းသာခွင့်ကို ပန်ကြားလျက်ရှိကြကုန်၏။

➤➤ အရေးယူတော်မူမည်မှာ အမှန်ပင်။ အတိတ်ခေတ် ကာဖိရ်များသည်လည်း အစပထမတွင် ဆိုးသွမ်းမိုက်မဲ နေခဲ့ကြပေသည်။ နောက်ဆုံးတွင် အလ္လာဟ်အရှင်မြတ်၏ အရေးယူတော်မူခြင်းကို ခံကြရပြီး မရှုမလှ ပျက်စီး ဆိတ်သုဉ်းသွားခဲ့ကြ ပေသည်။ လက်ရှိ ကာဖိရ်များသည်လည်း အချိန်မီ နောင်တမရကြပါက အတိတ်ခေတ် ကာဖိရ်များကဲ့သို့ပင် နောက်ဆုံးတွင် ပျက်စီးဆိတ်သုဉ်းသွားကြရမည်မှာ အမှန်ပင်။

(၁) ကာဖိရ်အုပ်စုတိုင်းသည် မိမိတို့ထံပွင့်လာသော တမန်တော်အား အမျိုးမျိုး အနှောင့်အယှက် ပေးခဲ့ကြသည် သာမက သတ်ဖြတ်ရန်ပင် ကြံစည်ခဲ့ကြသည်။ မမှန်ကန်သော ဝါဒများဖြန့်၍ အမှန်တရားကို ပျောက်ပျက်သွားရန် ကြိုးပမ်းခဲ့ကြသည်။ သို့တစေလည်း အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့၏ အကြံအစည်၊ ကြိုးပမ်းမှုများကို ဘယ်သောအခါမှ အောင်မြင် ထမြောက်စေတော်မူခဲ့သည်မရှိ။ ၎င်းတို့သည် တမန်တော်များအား လုပ်ကြံ သတ်ဖြတ်နိုင်ရန် ဝေးစွ။ ၎င်းတို့သည်သာလျှင် ကွပ်မျက်ခြင်း ခံသွားခဲ့ကြရပေသည်။ အတိတ်ခေတ် ကာဖိရ်များ သည် မိမိတို့၏ မသမာမှုများကြောင့် ဤပစ္စက္ခတွင် ပြစ်ဒဏ်ကြီးငယ်ခံ၍ နောင်တမလွန်ဘဝတွင် ဂျဟန္နမ်ငရဲသို့ လားကြရမည်ဖြစ်သကဲ့သို့ ၎င်းတို့၏လမ်းစဉ်ကို ဖဝါးခြေထပ်လိုက်နာနေကြသော လက်ရှိ ➤➤

رَبَّنَا وَسِعْتَ كُلَّ شَيْءٍ رَّحْمَةً وَّعِلْمًا فَاغْفِرْ لِلَّذِيْنَ تَابُوْا وَاتَّبَعُوْا سَبِيْلَكَ وَقِهِمْ عَذَابَ الْجَحِيْمِ ۝٧

အိုဩ—ကျွန်တော်မျိုးတို့အား ဖန်ဆင်း မွေးမြူ တော်မူသောအရှင်မြတ်၊ အရှင်မြတ်သည် အရာခပ်သိမ်း တို့ကို ကရုဏာတော်အားဖြင့်လည်းကောင်း၊ အသိပညာ အားဖြင့် လည်းကောင်း၊ ဝန်းခြုံလျက်ရှိတော်မူပါ၏။ သို့ဖြစ်ပါ၍ အရှင်မြတ်သည် အကြင်သူတို့အား ခွင့် လွှတ်ချမ်းသာ ပေးသနားတော်မူပါ။

ထိုသူတို့သည် ဝန်ချတောင်းပန်ခဲ့ကြကုန်၏။ ၎င်းပြင် ထိုသူတို့သည် အရှင်မြတ်၏လမ်းကိုလည်း လိုက်ကြကုန်၏။ ထိုမှတစ်ပါး အရှင်မြတ်သည် ၎င်းတို့အား "ဂျဟန္နမ်" ငရဲဘုံ၏ ပြစ်ဒဏ်မှလည်း ကင်းလွတ်စေတော်မူပါ။

رَبَّنَا وَاَدْخِلْهُمْ جَنّٰتِ عَدْنِ ࣙالَّتِيْ وَعَدْتَّهُمْ وَمَنْ صَلَحَ مِنْ اٰبَآئِهِمْ وَاَزْوَاجِهِمْ وَذُرِّيّٰتِهِمْ ؕ اِنَّكَ اَنْتَ الْعَزِيْزُ الْحَكِيْمُ ۝٨

၈။ အိုဩ—ကျွန်တော်မျိုးတို့အား ဖန်ဆင်းမွေးမြူတော် မူသောအရှင်မြတ်၊ ၎င်းပြင် အရှင်မြတ်သည် ထိုသူတို့ အား အရှင်မြတ် ၎င်းတို့အား ကတိပြုတော်မူခဲ့သည့် အမြဲထာဝရ နေထိုင်ရအံ့သော ဥယျာဉ်များသို့လည်း ဝင်ရောက်စေတော်မူပါ။ ထို့ပြင် ထိုသူတို့၏ ဖခင်တို့ အနက်မှလည်းကောင်း၊ ထိုသူတို့၏ သား၊ မြေး၊ မြစ်တို့ အနက်မှလည်းကောင်း၊ (ဂျန္နတ်နှင့်) သင့်လျော်ကြကုန် သောသူတို့အားလည်း (ယင်း အမတ သုခဥယျာဉ်များ သို့ ဝင်ရောက်စေတော်မူပါ၊) ဧကန်မလွဲ အရှင်မြတ် သည်ပင် လွန်စွာနိုင်နင်းလွှမ်းမိုးတော်မူသော အရှင်၊ ဆင်ခြင်တုံတရားနှင့် အလွန်တရာ ပြည့်စုံတော်မူသော အရှင် ဖြစ်တော်မူပါ၏။

---

➤➤ ကာဖိရ်များသည်လည်း မိမိတို့၏ ဆရာ ဆရာများကဲ့သို့ပင် နှစ်ဘဝစလုံးတွင် ဆုံးရှုံးကြရမည်မှာ အမှန်ပင်။

وَقِهِمُ السَّيِّاٰتِ ۭ وَمَنْ تَقِ السَّيِّاٰتِ يَوْمَىِٕذٍ فَقَدْ رَحِمْتَهٗ ۭ وَذٰلِكَ هُوَ الْفَوْزُ الْعَظِيْمُ ۹

**၉။** ထိုမှတစ်ပါး အရှင်မြတ်သည် ၎င်းတို့အား ဘေးဒုက္ခတို့မှလည်း လွတ်ကင်းစေတော်မူပါ။ စင်စစ်သော်ကား အရှင်မြတ်သည် ထိုနေ့တွင် အကြင်သူအား ဘေးဒုက္ခတို့မှ ကင်းလွတ်စေတော်မူခဲ့ပါလျှင် အရှင်မြတ်သည် အမှန်စင်စစ် ထိုသူအား သနားကရုဏာပြုတော်မူခဲ့သည်သာ စင်စစ်သော်ကား ဤသည်သာလျှင် ကြီးကျယ်မြင့်မြတ်လှစွာသော အောင်မြင်မှုတည်း။ ၁

اِنَّ الَّذِيْنَ كَفَرُوْا يُنَادَوْنَ لَمَقْتُ اللّٰهِ اَكْبَرُ مِنْ مَّقْتِكُمْ اَنْفُسَكُمْ اِذْ تُدْعَوْنَ اِلَى الْاِيْمَانِ فَتَكْفُرُوْنَ ۱۰

**၁၀။** ဧကန်စင်စစ် ("ကိယာမတ်" ရှင်ပြန်ထမည့်နေ့တွင်) "ကာဖိရ်" သွေဖည်ငြင်းပယ်ခဲ့ကြသောသူတို့သည် (ဤသို့) ဟစ်ခေါ်(ပြောဆို)ခြင်းကို ခံကြရပေမည်။ "အသင်တို့သည် (ယခု) မိမိတို့ကိုယ်ကို မုန်းတီးစက်ဆုပ်၍ နေကြသည်ထက် အသင်တို့သည် "အီမာန်" သက်ဝင်ယုံကြည်မှုသို့ ဖိတ်ခေါ်ခြင်းကို ခံခဲ့ကြရစဉ် အသင်တို့ ငြင်းပယ်ခဲ့ကြသောအခါ၌ အမှန်ပင် (အသင်တို့အား) အလ္လာဟ်အရှင်မြတ်သည်သာ ပို၍ပင် မုန်းတီးစက်ဆုပ်တော်မူခဲ့၏"။

---

(၁) အလ္လာဟ်အရှင်မြတ်၏ ပလ္လင်တော်ကို ထမ်းဆောင်လျက်ရှိကြကုန်သော၊ ထိုပလ္လင်တော်၏ ပတ်ဝန်းကျင်၌ ရှိကြကုန်သော ကောင်းကင်တမန်များသည် အလ္လာဟ်အရှင်မြတ်အား အခါခပ်သိမ်း ဂုဏ်တော်မွမ်းလျက် ရှိကြကုန်၏။ ထိုသို့ အလ္လာဟ်အရှင်မြတ်၏ ထံတော်ပါး၌ အမြဲထာဝစဉ် ခစားလျက် ရှိကြကုန်သော ကောင်းကင်တမန်များကပင်လျှင် အလ္လာဟ်အရှင်မြတ်ထံတော်၌ အီမာန် သက်ဝင်ယုံကြည်ကြကုန်သော မုအ်မင်န်များအဖို့ လွတ်ငြိမ်းချမ်းသာခွင့် ပေးသနားတော်မူပါမည့်အကြောင်း လျှောက်ထားလျက် ရှိကြကုန်၏။

ကောင်းကင်တမန်များသည် အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်များကို ဦးလည်မသုန် နာခံကြသည်သာ ဖြစ်ကြပေရာ ယင်းသို့ မုအ်မင်န်သူတော်စင်များအဖို့ လွတ်ငြိမ်းခွင့် လျှောက်ထားကြခြင်းမှာလည်း ထိုအရှင်မြတ်၏ ခွင့်ပြုချက်အရသာလျှင် ဖြစ်ရပေမည်။ ဤသည်ကို ထောက်ရှုခြင်းအားဖြင့် မုအ်မင်န်သူတော်စင်များ၏ ဂုဏ်အင်ဒြပ်ကား အဘယ်မျှ ကြီးကဲမြင့်မြတ်သည်ကို ကောင်းစွာသိနိုင်ပေသည်။

အလ္လာဟ်အရှင်မြတ်ထံတော်၌ မုအ်မင်န်များအဖို့ ကောင်းကင်တမန်များ မည်သို့မည်ပုံ ဆုပန်ကြသည့်အကြောင်း၊ ဤအာယတ်တော်များတွင် တိုတုပ် သိပ်သည်းစွာ ပါရှိပေသည်။

قَالُوا رَبَّنَآ اَمَتَّنَا اثۡنَتَيۡنِ وَاَحۡيَيۡتَنَا اثۡنَتَيۡنِ فَاعۡتَرَفۡنَا بِذُنُوۡبِنَا فَهَلۡ اِلٰى خُرُوۡجٍ مِّنۡ سَبِيۡلٍ ⑪

၁၁။ (ထိုရောအခါဝယ်) ၎င်းတို့သည် (ဤသို့) လျှောက်ထားပန်ကြားကြပေမည်။ အို-ကျွန်တော်မျိုးတို့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်၊ အရှင်မြတ်သည် ကျွန်တော်မျိုးတို့အား နှစ်ကြိမ်တိုင်တိုင် သူသေများအဖြစ်နှင့်ထားရှိတော်မူခဲ့ပါသည်၊ ထိုနည်းတူစွာ အရှင်မြတ်သည် နှစ်ကြိမ်တိုင်တိုင် ကျွန်တော်မျိုးတို့အား အသက်ရှင်စေတော်မူခဲ့ပါသည်။ [၁] ယခုသော်ကား ကျွန်တော်မျိုးသည် မိမိတို့၏ အပြစ်များကို ဝန်ခံကြပါပြီ။ သို့ဖြစ်ပါ၍ (ဤဒုက္ခမှ) လွတ်မြောက်ရန် နည်းလမ်း တစ်စုံတစ်ရာ ရှိပါ၏လော။

ذٰلِكُمۡ بِاَنَّهٗۤ اِذَا دُعِىَ اللّٰهُ وَحۡدَهٗ كَفَرۡتُمۡ‌ ۚ وَاِنۡ يُّشۡرَكۡ بِهٖ تُؤۡمِنُوۡا‌ ؕ فَالۡحُكۡمُ لِلّٰهِ الۡعَلِىِّ الۡكَبِيۡرِ ⑫

၁၂။ ယင်း(ကဲ့သို့ ထာဝရ ပြစ်ဒဏ်ခံကြရခြင်း)၏ အကြောင်းမှာ အလ္လာဟ်အရှင်မြတ် တစ်ဆူတည်းသာလျှင် ဟစ်ခေါ်တမ်းတခြင်း ခံရတော်မူသောအခါ၊ အသင်တို့သည် ငြင်းပယ်လေ့ရှိခဲ့ကြကုန်၏။ သို့ရာတွင် (တစ်စုံတစ်ရာကို) ထိုအရှင်မြတ်နှင့် တွဲဖက်နိုင်းယှဉ်ပါသော် အသင်တို့သည် ယုံကြည်လက်ခံလေ့ ရှိကြကုန်၏။ သို့ဖြစ်ပေရာ (ယခုသော်) စီရင်ဆုံးဖြတ်မှု (အာဏာ)သည် လွန်စွာမြင့်မြတ်ကြီးကဲလှတော်မူသော အလ္လာဟ်အရှင်မြတ်၌သာ ရှိချေသည်။

---

(၁) ကာဖိရ်များသည် လူ့လောက၌ ရှိနေခဲ့ကြစဉ် သေပြီးနောက် ပြန်လည်ရှင်ထကြရမည်ဟူသော အချက်ကို ငြင်းပယ်ခဲ့ကြသည်။ ကိယာမတ်နေ့တွင် ပြန်လည်ရှင်ထကြရသည်ကို မိမိတို့ကိုယ်တိုင် မျက်ဝါးထင်ထင် တွေ့မြင်ကြရသောအခါ မိမိတို့၏အမှားကို ဝန်ခံပြောဆိုကြပေမည်။

ဤအာယတ်တော်တွင် ပါရှိသော သေခြင်းနှစ်ရပ်၊ ရှင်ခြင်းနှစ်ရပ် ဟူသည် လူသားတို့သည် အစပထမတွင် မြေ၊ သို့မဟုတ် သုတ်ရည်ဘဝ၌ ရှိခဲ့ကြပေသည်။ အသေများပင် ဖြစ်ခဲ့ကြပေသည်။ ထို့နောက် အသက်ဇီဝိန် သက်ဝင်လာသောအခါ ရှင်လာခဲ့ကြပေသည်။ ထို့နောက်တစ်ဖန် သေခဲ့ကြရသည်။ ထို့နောက် ယခုတစ်ဖန် ရှင်ပြန်ထခဲ့ကြရပြီ။ ဤသည် သေခြင်းနှစ်ရပ်၊ ရှင်ခြင်းနှစ်ရပ်ပင်။ ဤသည့် သဘောကို ကုရ်အာန်ကျမ်းမြတ် (၂း၂၈)တွင်လည်း မိန့်ဆိုထားတော်မူသည်။

هُوَ الَّذِي يُرِيكُمْ آيَاتِهِ وَيُنَزِّلُ لَكُم مِّنَ السَّمَاءِ رِزْقًا ۚ وَمَا يَتَذَكَّرُ إِلَّا مَن يُنِيبُ ⑬

၁၃။ ထိုအရှင်မြတ်သည်ပင် အသင်တို့အား မိမိ သက်သေလက္ခဏာတော်များကို ပြသတော်မူ၏။ ထိုမှ တစ်ပါး ထိုအရှင်မြတ်သည်ပင် အသင်တို့အဖို့ မိုး ကောင်းကင်မှ စားနပ်ရိက္ခာကို ချပေးသနားတော်မူ၏။ သို့ရာတွင် (ထိုအရှင်မြတ်ဘက်သို့) ပြန်လှည့်သော သူသည်သာလျှင် စဉ်းစားဆင်ခြင်တရား ရယူလေ့ ရှိပေသည်။ ¹

فَادْعُوا اللَّهَ مُخْلِصِينَ لَهُ الدِّينَ وَلَوْ كَرِهَ الْكَافِرُونَ ⑭

၁၄။ သို့ဖြစ်ပေရာ "ကာဖိရ်" သွေဖည်ငြင်းပယ် သောသူတို့သည် မနှစ်မြို့ကြငြားသော်လည်း အသင် တို့သည် ဆည်းကပ်ကိုးကွယ်မှုကို အလ္လာဟ်အရှင်မြတ် အတွက် သန့်သန့်ပြုကြလျက် ထိုအရှင်မြတ်အားသာ လျှင် တသကြလေကုန်။

رَفِيعُ الدَّرَجَاتِ ذُو الْعَرْشِ يُلْقِي الرُّوحَ مِنْ أَمْرِهِ عَلَىٰ مَن يَشَاءُ مِنْ عِبَادِهِ لِيُنذِرَ يَوْمَ التَّلَاقِ ⑮

၁၅။ (ထိုအရှင်မြတ်သည်) ဂုဏ်ရည်အဆင့်အတန်း များကို မြှင့်ပေးတော်မူသော မြင့်မြတ်သော ဂုဏ်ရည် အဆင့်အတန်းများနှင့် ပြည့်စုံတော်မူသော "အရ်ရှ်" ပလ္လင်တော်ကို စိုးပိုင်တော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူ၏။ ထိုအရှင်မြတ်သည် "ဝဟ်ယ်" ထုတ်ပြန် ချက်တည်းဟူသော မိမိအမိန့်တော်ကို မိမိကျွန်တို့ အနက်မှ မိမိအလိုရှိတော်မူသောသူ၏ အပေါ်ဝယ် ချပေးတော်မူ၏။ (ယင်းသို့ ချပေးတော်မူခြင်းမှာ) ထိုကျွန်သည် စုရုံးမည့်နေ့ (ဝါ) "ကိယာမတ်" ရှင်ပြန် ထမည့်နေ့နှင့်စပ်လျဉ်း၍ (လူတို့အား) သတိပေးနှိုးဆော် အံ့သောငှာ ဖြစ်ပေသည်။

① အလ္လာဟ်အရှင်မြတ်သည် မိမိတစ်ပါးတည်း ရှိတော်မူကြောင်း၊ မိမိသည် အနန္တတန်ခိုးတော်ရှင် ဖြစ်တော် မူကြောင်းနှင့် စပ်လျဉ်း၍ လူသားတို့အား အရာရာတွင် သက်သေလက္ခဏာများကို ပြထားတော်မူသည်။ လူသားသည် ယုတ်စွအဆုံး နေ့စဉ်နှင့်အမျှ မိမိမှီဝဲစားသုံးနေသော အစာအာဟာရကိုပင် စေ့စေ့ငုငု စဉ်းစား ဆင်ခြင်ပါက ဤပြသနာကို အလွယ်တကူ နားလည်သဘောပေါက်နိုင်ပေသည်။ သို့ရာတွင် အချို့လူသားသည် သို့ စဉ်းစားဆင်ခြင်ရန် ဝေးစွ၊ မေ့မှား၍မျှ အိပ်မက်တွင်မျှ မမြင်မက်ခဲ့ပေ။ ဤသို့ မိမိ၏အာရုံအရပ်ရပ်ကို ➤➤

يَوْمَ هُم بَارِزُونَ ۖ لَا يَخْفَىٰ عَلَى اللَّهِ مِنْهُمْ شَيْءٌ ۚ لِّمَنِ الْمُلْكُ الْيَوْمَ ۖ لِلَّهِ الْوَاحِدِ الْقَهَّارِ ⑯

၁၆။ အကြင်နေ့တွင် ၎င်းတို့သည် (မိမိတို့၏ သင်္ချိုင်းများအတွင်းမှ ထိုအရှင်မြတ်၏)ရှေ့တော်မှောက်သို့ ထွက်လာကြရပေမည်။ (ထိုနေ့တွင်) ၎င်းတို့နှင့် ပတ်သက်၍ မည်သည့်တစ်စုံတစ်ရာမျှပင် အလ္လာဟ်အရှင်မြတ်၌ ဖုံးကွယ်၍ နေမည်မဟုတ်ပေ။ (ထိုနေ့တွင် ထိုအရှင်မြတ်က) "စိုးမိုးအုပ်ချုပ်သည့် အာဏာသည် ယနေ့ မည်သူ့၌ ရှိချေသနည်း"(ဟု မိန့်ကြားတော်မူပေမည်။ တဖန် မိမိကိုယ်တော်တိုင်) တစ်ဆူတည်းဖြစ်တော်မူသော၊ အလွန်တရာ နိုင်နင်းလွှမ်းမိုးတော်မူသော အလ္လာဟ်အရှင်မြတ်၌သာရှိသည် (ဟု မိန့်ကြားတော်မူပေမည်)။ ①

الْيَوْمَ تُجْزَىٰ كُلُّ نَفْسٍ بِمَا كَسَبَتْ ۚ لَا ظُلْمَ الْيَوْمَ ۚ إِنَّ اللَّهَ سَرِيعُ الْحِسَابِ ⑰

၁၇။ ယနေ့သော်ကား လူတိုင်းလူတိုင်းသည် မိမိတို့ ရှာဖွေဆည်းပူးခဲ့သမျှနှင့်စပ်လျဉ်း၍ အစားပေးခြင်းကို ခံကြရပေမည်။ ယနေ့ မတရားပြုလုပ်မှုဟူ၍ကား အလျင်းမရှိပြီ။ ဧကန်အမှန် အလ္လာဟ်အရှင်မြတ် သည် လျင်မြန်စွာ စာကြောစစ်ဆေးတော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

---

➤➤ အဖက်ဖက်မှပိတ်ထားသော လူသားသည် အလ္လာဟ်အရှင်မြတ်၏ သက်သေလက္ခဏာတော်များကို အသို့လျှင် မြင်နိုင်အံ့နည်း။ အမှန်မှာ အလ္လာဟ်အရှင်မြတ် ဘက်တော်သို့ ပြန်လှည့်သော၊ အာရုံပြုသော သူများသာလျှင် စဉ်းစားဆင်ခြင် တရားမြင်ကြပေသည်။

① အမှန်မှာ စိုးမိုးအုပ်ချုပ်မှု အာဏာသည် လက်ရှိ ဤပစ္စက္ခတွင်လည်းကောင်း၊ နောင်တမလွန်ဘဝ၌ လည်းကောင်း၊ အခါခပ်သိမ်း အလ္လာဟ်အရှင်မြတ် တစ်ပါးတည်း၌သာ ရှိသည်။ ဤပစ္စက္ခတွင် မှချမဟုတ်သည့်တိုင် ဥပစာအားဖြင့် ငါ့အိမ်၊ ငါ့အိုး၊ ငါ့မင်း၊ ငါ့ချင်းဟု ပြောဆိုဝင့်ဝါသူများ ရှိကြသော်လည်း၊ ကိယာမတ်နေ့တွင်မူ ဥပစာအားဖြင့်ပင်လျှင် ပြောဆိုဝင့်ဝါနိုင်မည့်သူ တစ်ဦးတစ်ယောက်မျှပင် ရှိမည်မဟုတ်ပေ။ ခပ်သိမ်းကုန်သော စိုးမိုးအုပ်ချုပ်မှု အာဏာသည် အလ္လာဟ်အရှင်မြတ် တစ်ပါးတည်း၌သာ တည်ရှိပေမည်။ အရာခပ်သိမ်းကုန်တို့သည် ထိုအရှင်မြတ်၏ ရှေ့တော်မှောက်တွင် ပျပ်ဝပ်ရိုကျိုးလျက် ရှိကြပေမည်။

وَأَنذِرْهُمْ يَوْمَ الْآزِفَةِ إِذِ الْقُلُوبُ لَدَى الْحَنَاجِرِ كَاظِمِينَ ۚ مَا لِلظَّالِمِينَ مِنْ حَمِيمٍ وَلَا شَفِيعٍ يُطَاعُ ﴿١٨﴾

၁၈။ ထိုမှတစ်ပါး (အို-နဗီတမန်တော်) အသင်သည် ၎င်းတို့အား နီးကပ်၍လာအံ့သော(ကိယာမတ်)နေ့နှင့်စပ်လျဉ်း၍ သတိပေးနှိုးဆော်ပါလေ။ ထိုရောအခါဝယ် စိတ်နှလုံးများမှာ လွန်စွာ ပူဆွေးသောကကို ချုပ်တည်းမျိုသိပ်လျက် လည်မျိုများသို့ ဆို့၍ လာကြပေမည်။

(ထိုနေ့တွင်) မတရားကျူးလွန်သူတို့၌ ရင်းနှီးသော မိတ်ဆွေဟူ၍လည်း တစ်ဦးတစ်ယောက်မျှ ရှိလိမ့်မည် မဟုတ်ပေ။ သြဇာညောင်းသော ကြားဝင်အသနားခံပေးအံ့သော သူဟူ၍လည်း တစ်ဦးတစ်ယောက်မျှပင် ရှိလိမ့်မည် မဟုတ်ပေ။

يَعْلَمُ خَائِنَةَ الْأَعْيُنِ وَمَا تُخْفِي الصُّدُورُ ﴿١٩﴾

၁၉။ ထိုအရှင်မြတ်သည် မျက်စိများ၏ သစ္စာဖောက်မှု ခိုးဝှက်မှုကိုလည်းကောင်း၊ စိတ်နှလုံးများက လျှို့ဝှက်ထားရှိသည်တို့ကိုလည်းကောင်း၊ သိရှိတော်မူ၏။

وَاللَّهُ يَقْضِي بِالْحَقِّ ۖ وَالَّذِينَ يَدْعُونَ مِن دُونِهِ لَا يَقْضُونَ بِشَيْءٍ ۗ إِنَّ اللَّهَ هُوَ السَّمِيعُ الْبَصِيرُ ﴿٢٠﴾

၂၀။ စင်စစ်သော်ကား အလ္လာဟ်အရှင်မြတ်သည် တရားသဖြင့် စီရင်ဆုံးဖြတ်တော်မူပေမည်။ သို့ရာတွင် ထိုအရှင်မြတ်အား စွန့်၍လည်းကောင်း၊ ("ကာဖိရ်" သွေဖည်ငြင်းပယ်သောသူ)တို့ဟစ်ခေါ် တသကြကုန်သော (၎င်းတို့၏) ကိုးကွယ်ရာတို့မှာမူကား မည်သို့မျှ စီရင်ဆုံးဖြတ်နိုင်ကြမည် မဟုတ်ပေ။

ဧကန်မလွဲ အလ္လာဟ်အရှင်မြတ်သည်သာလျှင် အရာခပ်သိမ်းတို့ကို အကြွင်းမဲ့ ကြားတော်မူသောအရှင်၊ အရာခပ်သိမ်းတို့ကို အကြွင်းမဲ့ မြင်တော်မူသောအရှင် ဖြစ်တော်မူပေသတည်း။

أَوَلَمْ يَسِيرُوا فِي الْأَرْضِ فَيَنظُرُوا كَيْفَ كَانَ عَاقِبَةُ الَّذِينَ كَانُوا مِن قَبْلِهِمْ ۚ كَانُوا هُمْ أَشَدَّ مِنْهُمْ قُوَّةً وَآثَارًا فِي الْأَرْضِ فَأَخَذَهُمُ اللَّهُ بِذُنُوبِهِمْ وَمَا كَانَ لَهُم مِّنَ اللَّهِ مِن وَاقٍ ﴿٢١﴾

၂၁။ ထိုသူတို့သည် ကမ္ဘာမြေဝယ် လှည့်လည်သွားလာခြင်း မပြုခဲ့ကြလေသလော၊ သို့ပြုခဲ့ကြလျှင်၊ ၎င်းတို့သည် မိမိတို့အလျင် ရှိခဲ့ဘူးကြသောသူတို့၏ နောက်ဆုံးအကျိုးသည် မည်သို့မည်ပုံ ရှိခဲ့သည်ကို မြင်ကြရပေမည်။

ထိုရှေးသူဟောင်းတို့သည် ထိုသူတို့ထက်ပင် သူရသတ္တိ၊ ခွန်အားဗလအားဖြင့်လည်းကောင်း၊ ပထဝီမြေဝယ် ချန်ရစ်ခဲ့ကြသော ခြေရာလက်ရာအားဖြင့်လည်းကောင်း၊ ပိုမို ထူးကဲသူများ ဖြစ်ခဲ့ကြပေသည်။ သို့တစေလည်း အလ္လာဟ်အရှင်မြတ်သည် ထိုသူတို့အား ၎င်းတို့၏ ပြစ်မှုဒုစရိုက်တို့ကြောင့် ဖမ်းဆီးကွပ်မျက်တော်မူခဲ့၏။ ၎င်းတို့၌ အလ္လာဟ်အရှင်မြတ်၏ ပြစ်ဒဏ်မှ လွတ်မြောက်စေမည့်သူဟူ၍လည်း တစ်ဦးတစ်ယောက်မျှပင် မရှိခဲ့ပေ။ [၁]

ذَٰلِكَ بِأَنَّهُمْ كَانَت تَّأْتِيهِمْ رُسُلُهُم بِالْبَيِّنَاتِ فَكَفَرُوا فَأَخَذَهُمُ اللَّهُ ۚ إِنَّهُ قَوِيٌّ شَدِيدُ الْعِقَابِ ﴿٢٢﴾

၂၂။ ထိုသို့ (ဖမ်းဆီး ကွပ်မျက်ခြင်းခံခဲ့ကြရသည်မှာ) ၎င်းတို့၏ရစူလ်တမန်တော်များသည် ၎င်းတို့ထံ ထင်ရှားစွာသော သက်သေသာဓက အထောက်အထားများ ဆောင်ယူခဲ့လေ့ ရှိကြသော်လည်း ၎င်းတို့မှာမူကား ငြင်းပယ်လျက်ပင် ရှိခဲ့ကြသောကြောင့် အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့အား ဖမ်းဆီးကွပ်မျက်တော်မူခဲ့၏။ ဧကန်မလွဲ ထိုအရှင်မြတ်သည် အလွန်တရာ ခွန်အားဗလနှင့် ပြည့်စုံတော်မူသော ပြင်းထန်စွာ ပြစ်ဒဏ်စီရင်တော်မူသောအရှင် ဖြစ်တော်မူပေသတည်း။

---

၁ (ကုဖ်ရ်) သွေဖည်မှု (ရှုရစ်က်) ယှဉ်တွဲ ကိုးကွယ်မှုများ၏ ပြစ်ဒဏ်များမှာ မည်ရွေ့မည်မျှ ကြီးလေးသည်များကို ကြားနာရပြီးသည့်နောက်သော်မှပင် အမှုမဲ့ အမှတ်မဲ့နေကြသော ကာဖိရ်၊ မုရှ်ရစ်က်များသည် ကမ္ဘာတွင်လှည့်လည်၍ လေ့လာဆည်းပူးကြပါက ၎င်းတို့အလျင် အတိတ်ခေတ်များ၌ အဘက်ဘက်တွင် ၎င်းတို့ထက်သာခဲ့ကြသော ကာဖိရ်၊မုရှ်ရစ်က်တို့သည်ပင် သက်ဆိုင်ရာတမန်တော်များ၏ ဒေသနာတော်များကို သွေဖည်ငြင်းဆန်ခဲ့ကြ ➢➢

وَلَقَدْ اَرْسَلْنَا مُوْسٰى بِاٰيٰتِنَا
وَسُلْطٰنٍ مُّبِيْنٍ ﴿٢٣﴾

၂၃။ ထို့ပြင် မလွဲဧကန် ငါအရှင်မြတ်သည် မူစာအား ငါအရှင်မြတ်၏ အမိန့်ပညတ်တော်များအပြင် ထင်ရှားစွာသော သက်သေ လက္ခဏာတော်နှင့်တကွ စေလွှတ်တော်မူခဲ့၏။

اِلٰى فِرْعَوْنَ وَهَامٰنَ
وَقَارُوْنَ فَقَالُوْا سٰحِرٌ
كَذَّابٌ ﴿٢٤﴾

၂၄။ "ဖစ်ရ်အောင်န်"၊ "ဟာမာန်" နှင့် "ကာရူန်" တို့ထံ။ ထိုအခါ ၎င်းတို့က (ထိုမူစာသည်) ပဉ္စလက်ဆရာတစ်ဦးသည်လည်းကောင်း၊ လွန်စွာ မုသားပြောဆိုသူ တစ်ဦးသည်လည်းကောင်း၊ ဖြစ်သည်ဟု ပြောဆိုခဲ့ကြ၏။

فَلَمَّا جَآءَهُمْ بِالْحَقِّ مِنْ
عِنْدِنَا قَالُوا اقْتُلُوْٓا اَبْنَآءَ
الَّذِيْنَ اٰمَنُوْا مَعَهٗ
وَاسْتَحْيُوْا نِسَآءَهُمْ ؕ
وَمَا كَيْدُ الْكٰفِرِيْنَ اِلَّا فِىْ
ضَلٰلٍ ﴿٢٥﴾

၂၅။ ထို့နောက် ထိုမူစာသည် ငါအရှင်မြတ် အထံတော်မှ အမှန်တရားကိုဆောင်ယူ၍ ၎င်းတို့ထံ ရောက်ရှိလာသောအခါ ၎င်းတို့က "အသင်တို့သည် ထိုမူစာနှင့်အတူ 'အီမာန်' သက်ဝင်ယုံကြည်ခဲ့ကြသောသူတို့၏ သားယောကျ်ားကလေးများကို သတ်ဖြတ်ကြ၍ ၎င်းတို့၏မိန်းမတို့ကိုမူကား သတ်ဖြတ်ခြင်းမပြုဘဲ အသက်ရှင်စွာ ထားရှိကြလေကုန်"ဟု ပြောဆိုခဲ့ကြကုန်၏။ သို့တစေလည်း "ကာဖိရ်" သွေဖည်ငြင်းပယ်ကြလေသောသူတို့၏အကြံအစည်မှာ လွဲမှားခဲ့သည်သာ။

وَقَالَ فِرْعَوْنُ ذَرُوْنِىْٓ
اَقْتُلْ مُوْسٰى وَلْيَدْعُ رَبَّهٗ ۚ
اِنِّىْٓ اَخَافُ اَنْ يُّبَدِّلَ دِيْنَكُمْ

၂၆။ ထိုမှတစ်ပါး "ဖစ်ရ်အောင်န်" သည် (ဤသို့) ပြောဆိုခဲ့လေ၏။ "အသင်တို့သည် ငါ့အား မတားဆီးကြကုန်လင့်။ ငါသည် မူစာအား သတ်ဖြတ်မည်။ ထို့ပြင် ထိုမူစာသည် ၎င်းကို ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်အား ဟစ်ခေါ်ပါစေ"။

▶▶ သည့်အခါ အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့အား ကွပ်မျက်တော်မူခဲ့သည့် အတိတ်ဖြစ်ရပ်များကို တွေ့မြင်ကြရပေမည်။ လက်ရှိ ကာဖိရ်၊ မုရှ်ရစ်က်များသည် ဤသည့် အတိတ်ဖြစ်ရပ်များမှ သင်ခန်းစာ မရယူကြပါက အတိတ်ခေတ် ကာဖိရ်၊ မုရှ်ရစ်က်များကဲ့သို့ပင် ကွပ်မျက်ခြင်းခံကြရမည်မှာ အမှန်မုချပင်။
ကြည့်-ကုရ်အာန် (၃၀း၉-၁၀)။

أَوْ أَنْ يُظْهِرَ فِي الْأَرْضِ الْفَسَادَ ﴿٢٦﴾

|(တစ်နည်း) "အသင်တို့သည် ငါ့အား မူစာကို သတ်ဖြတ်ခြင်းမှ မတားဆီးကြကုန်လင့်၊ ထိုမူစာအား လည်း ၎င်း၏အရှင်မြတ်အား ဟစ်ခေါ်(အကူအညီ တောင်းခံ)ပါစေ၊| အမှန်စင်စစ်သော်ကား ထိုမူစာသည် အသင်တို့၏သာသနာကို ပြောင်းလဲ(ဖျက်ဆီး)ပစ်မည် ကိုသော်လည်းကောင်း၊ တိုင်းပြည်၌ ပျက်စီးရာပျက်စီး ကြောင်းကို ဖြစ်ပေါ်စေမည်ကိုသော်လည်းကောင်း၊ ငါသည် စိုးရိမ်မိ၏။

وَقَالَ مُوسَىٰ إِنِّي عُذْتُ بِرَبِّي وَرَبِّكُمْ مِنْ كُلِّ مُتَكَبِّرٍ لَا يُؤْمِنُ بِيَوْمِ الْحِسَابِ ﴿٢٧﴾

၂၇။ သို့ရာတွင် မူစာသည် (ဤသို့) ပြောကြား ခဲ့လေ၏။ စင်စစ် ငါသည် စာရင်း မေးမြန်း မည့်နေ့ကို သက်ဝင်ယုံကြည်ခြင်းမရှိသော ဘဝင်မြင့် မာန်မာန ထောင်လွှားသူတိုင်း(၏ ဘေးရန်ခပ်သိမ်း တို့)မှ (ကင်းလွတ်အံ့သောငှာ) ငါ့အား လည်းကောင်း၊ အသင်တို့အား လည်းကောင်း၊ (အားလုံးတို့အား) ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်အထံတော်၌ အကာအကွယ်ယူထားပြီး ဖြစ်သည်။

وَقَالَ رَجُلٌ مُؤْمِنٌ مِنْ آلِ فِرْعَوْنَ يَكْتُمُ إِيمَانَهُ أَتَقْتُلُونَ رَجُلًا أَنْ يَقُولَ رَبِّيَ اللَّهُ وَقَدْ جَاءَكُمْ بِالْبَيِّنَاتِ مِنْ رَبِّكُمْ ۖ وَإِنْ يَكُ كَاذِبًا فَعَلَيْهِ كَذِبُهُ ۖ وَإِنْ يَكُ صَادِقًا يُصِبْكُمْ

၂၈။ ထို့ပြင် "ဖစ်ရ်အောင်န်" ၏ ဆွေမျိုးသားချင်း တို့အနက်မှ မိမိ "အီမာန်" ယုံကြည်မှုကို လျှို့ဝှက်၍ ထားရှိလေသော "မုအ်မင်န်" ယောကျ်ားတစ်ဦးက (ဤသို့)ပြောဆိုခဲ့လေ၏။ "အသင်တို့သည် လူ တစ်ယောက်အား ထိုသူက ငါ့အား ဖန်ဆင်းမွေးမြူတော် မူသော အရှင်မြတ်မှာ အလ္လာဟ်အရှင်မြတ်ပင် ဖြစ်တော် မူသည်"ဟု ပြောဆိုမှုကြောင့် သတ်ဖြတ်ကြမည်လော၊ အမှန်စင်စစ်သော်ကား ထိုသူသည် အသင်တို့ထံ အသင်တို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ် အထံတော်မှ ထင်ရှားစွာသော သက်သေ အထောက် အထားများကိုလည်း ယူဆောင်လာခဲ့လေ၏။

بَعْضُ الَّذِي يَعِدُكُمْ ۖ إِنَّ اللَّهَ لَا يَهْدِي مَنْ هُوَ مُسْرِفٌ كَذَّابٌ ﴿٢٨﴾

စင်စစ်သော်ကား အကယ်၍သာ ထိုသူသည် မုသားဝါဒီဖြစ်မူ ထိုသူ၏မုသားဝါဒသည် ၎င်း၏ အပေါ်၌သာကျရောက်ပေမည်။ သို့ရာတွင် အကယ်၍ ထိုသူသည် သစ္စာဝါဒီ ဖြစ်လျှင် အသင်တို့အား ထိုသူ ကြိုတင် ဗျာဒိတ် ပေးလျက်ရှိသည်တို့အနက် (ပြစ်ဒဏ်) တစိတ်တဒေသမှာ အသင်တို့၌ သက်ရောက်မည် ဖြစ်၏။ အမှန်စင်စစ် အလ္လာဟ်အရှင်မြတ်သည် စည်းကမ်းကျူးလွန်သော လွန်စွာမုသားပြောဆိုသောသူအား တရားလမ်းမှန်ကို ညွှန်ပြတော်မူသည်မဟုတ်ပေ။ [၁]

يَٰقَوْمِ لَكُمُ الْمُلْكُ الْيَوْمَ ظَٰهِرِينَ فِي الْأَرْضِ فَمَن يَنصُرُنَا مِن بَأْسِ اللَّهِ إِن جَاءَنَا ۚ قَالَ

၂၉။ အို-ကျွန်ုပ်၏အမျိုးသားတို့၊ ယနေ့ အသင်တို့၌ သြဇာ၊ တိက္ကမ စိုးမိုးအုပ်ချုပ်မှုရှိနေ၍ အသင်တို့သည် တိုင်းပြည်အတွင်း လွှမ်းမိုးကြီးစိုးလျက်ရှိနေကြပေသည်။ သို့ရာတွင် အလ္လာဟ်အရှင်မြတ်၏ ပြစ်ဒဏ်မှ အကယ်၍ ယင်းပြစ်ဒဏ်သည် ကျွန်ုပ်တို့၌ ဆိုက်ရောက်လာခဲ့သည်ရှိသော် ကျွန်ုပ်တို့အား မည်သူလွတ်မြောက်စေပါမည်နည်း။

---

**(၁) ဖိရ်အောင်န်၏မျိုးနွယ်မှ မုအ်မင်န်သူတော်စင်၊**

ဖိရ်အောင်န်သည် တမန်တော်မူစာနှင့် တမန်တော်မူစာ တင်ပြနေသောဝါဒကို ဖျက်ဆီးရန် အမျိုးမျိုးကြံစည်ခဲ့သော်လည်း မအောင်မြင်သည့်အဆုံး၌ လက်နက်အားကိုးဖြင့် တမန်တော်မူစာအား သတ်ဖြတ်ရန် ကြုံးဝါးခဲ့လေသည်။ ထိုအခါ ဖိရ်အောင်န်၏ အမျိုးနွယ်မှပင် မိမိ၏ အီမာန်ယုံကြည်မှုကို အခြေအနေအရ လျှို့ဝှက်ထားခဲ့သော မုအ်မင်န် သူတော်စင်တစ်ဦးသည် မုအ်မင်န် တစ်ဦးပီပီ၊ မနေသာသည့်အဆုံး၌ ဖိရ်အောင်န်နှင့် ၎င်း၏ အမျိုးသားများအား “အသင်တို့သည် ပုဂ္ဂိုလ်တစ်ဦးအား မိမိ၏အရှင်မှာ အလ္လာဟ်အရှင်မြတ် ဖြစ်တော်မူပါသည်ဟုဆိုခြင်းကြောင့် သတ်ဖြတ်ကြတော့မည်လော၊ အမှန်မှာ ထိုပုဂ္ဂိုလ်သည် အသင်တို့ထံသို့ အသင်တို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်ထံတော်မှ ထင်ရှားသော သက်သေလက္ခဏာတော်များကိုလည်း ယူဆောင်လာခဲ့ချေပြီ။ အကယ်တန္တ ထိုပုဂ္ဂိုလ်သည် အလ္လာဟ်အရှင်မြတ်နှင့် ပတ်သက်၍ မဟုတ်မမှန်သော စကားကိုဆိုပါက အလ္လာဟ်အရှင်မြတ်သည် ၎င်းအား လျစ်လျူပြုထားတော် မူမည်မဟုတ်၊ အရေးယူတော်မူမည်သာ ဖြစ်သည်။ ထိုပုဂ္ဂိုလ်အား သတ်ဖြတ်ရန်ပင်မလိုပေ။ အကယ်၍ထိုပုဂ္ဂိုလ်သည် မှန်ကန်သူဖြစ်နေပါက အသင်တို့သည် ထိုပုဂ္ဂိုလ်၏စကားကို သွေဖည်မိကြပါက အသင်တို့၌ပင် ဘေးအန္တရာယ် သက်ရောက်မည်ဖြစ်သည်။ သို့ဖြစ်ရာ ထိုပုဂ္ဂိုလ်အား သွေဖည်ဆန့်ကျင်ရန်လည်းမလို၊ သတ်ဖြတ်ရန်လည်းမလို” ဟု ကျိုးကြောင်းပြကာ ဝင်ရောက်ပြောဆိုခဲ့လေသည်။

فِرْعَوْنُ مَآ اُرِيْكُمْ اِلَّا مَآ اَرٰى وَمَآ اَهْدِيْكُمْ اِلَّا سَبِيْلَ الرَّشَادِ ﴿٢٩﴾

(ထိုအခါ) "ဖစ်ရ်အောင်န်က (အချင်းတို့၊) ငါသည် မိမိ ထင်မြင်ယူဆချက်ကိုသာ အသင်တို့အား အကြံပေးခြင်းဖြစ်သည်။ ထိုမှတစ်ပါး ငါသည် အသင်တို့အား သင့်လျော်မှန်ကန်သော နည်းလမ်းမှ တစ်ပါး တခြားမည်သည်ကိုမှ ညွှန်ပြသည်မဟုတ်" ဟု ပြောဆိုခဲ့ပေသည်။ [၁]

وَقَالَ الَّذِيْٓ اٰمَنَ يٰقَوْمِ اِنِّيْٓ اَخَافُ عَلَيْكُمْ مِّثْلَ يَوْمِ الْاَحْزَابِ ﴿٣٠﴾

၃၀။ ထိုမှတစ်ပါး (ထို)"မုအ်မင်န်" သက်ဝင်ယုံကြည်သူသည် (ဤသို့) ပြောကြားခဲ့ပြန်လေ၏။ အို-ကျွန်ုပ်၏ အမျိုးသားတို့၊ ဧကန်စင်စစ် ကျွန်ုပ်သည် အသင်တို့အပေါ်၌(ရှေးအထက်ကျော်ကာလက) ဘာသာဝင် အုပ်စုများနည်းတူ (ဆိုးရွားသော)နေ့(ဆိုက်ရောက်လာမည်)ကို စိုးရိမ်မိ၏။

مِثْلَ دَاْبِ قَوْمِ نُوْحٍ وَّعَادٍ وَّثَمُوْدَ وَالَّذِيْنَ مِنْۢ بَعْدِهِمْ ۭ وَمَا اللّٰهُ يُرِيْدُ ظُلْمًا لِّلْعِبَادِ ﴿٣١﴾

၃၁။ (နဗီတမန်တော်) "နူးဟ်" ၏အမျိုးသားတို့၏အခြေအနေကဲ့သို့လည်းကောင်း၊ "အာဒ်" အမျိုးသားတို့အခြေအနေကဲ့သို့လည်းကောင်း၊ "ဆမူဒ်" အမျိုးသားတို့၏အခြေအနေကဲ့သို့လည်းကောင်း၊ ထိုသို့သော အမျိုးသားတို့၏ နောက်ရှိခဲ့ဘူးကြသောသူတို့၏ အခြေအနေကဲ့သို့လည်းကောင်း၊ စင်စစ်သော်ကား အလ္လာဟ်အရှင်မြတ်သည် (မိမိ) ကျွန်တို့ အပေါ်ဝယ် မည်သို့မျှမတရား ပြုလုပ်တော်မူသည် မဟုတ်ပေ။

---

(၁) ထိုမုအ်မင်န် သူတော်စင်က ဆက်လက်၍ "အို-ကျွန်ုပ်၏ အမျိုးသားများ၊ ယနေ့အသင်တို့သည် မိမိတို့၏ဥစ္စာဓနေ၊ ခွန်အားဗလ၊ စစ်သည်အင်အား ကြီးမားများပြားသည်ကိုအကြောင်းပြု၍ မာန်မာန ထောင်လွှားလျက် ရှိကြပေသည်။ အမှန်မှာ ဤသည်တို့ကို အကြောင်းပြု၍ ကြွားဝါရန်မဟုတ်။ အသင်တို့၏ ပြစ်မှုများကြောင့် နက်ဖြန် အလ္လာဟ်အရှင်မြတ်၏ ပြစ်ဒဏ်သည် အသင်တို့၌ သက်ရောက်လာခဲ့သည်ရှိသော်၊ အသင်တို့အား မည်သူမျှ ကာကွယ်နိုင်မည်မဟုတ်ပေ။ ထိုအခါ အသင်တို့သည် ကျိုးယုတ်ရက်ရ ပျက်စီးခြင်းကြီးမလှပျက်စီးကြရပေမည်ဟု သတိပေးခဲ့လေသည်။ ထိုအခါ ဖိရ်အောင်န်က ငါသည် မိမိကိုယ်တိုင် လျော်ကန်သင့်မြတ်သည်ဟု ထင်မြင်ယူဆသောအရာကိုသာ အသင်တို့အားဘင်ပြခြင်းဖြစ်သည်။ ငါ့ထံမှာ အကောင်းဆုံး လမ်းစဉ်မှာ ဤသူ(တမန်တော်မူစာ)အား သတ်ဖြတ်၍ လုံးဝသန့်ရှင်းလိုက်ခြင်းပင်ဖြစ်သည်"ဟု လူမိုက်စကားပြောကြားခဲ့လေ၏။

وَيٰقَوْمِ إِنِّيٓ أَخَافُ عَلَيْكُمْ يَوْمَ التَّنَادِ ﴿٣٢﴾

၃၂။ ထိုမှတစ်ပါး အို-ကျွန်ုပ်၏အမျိုးသားတို့၊ ဧကန်မလွဲ ကျွန်ုပ်သည် အသင်တို့နှင့်ပတ်သက်၍ ဟစ်အော်မည့်နေ့(၏အပြစ်ဒဏ်)ကိုလည်းစိုးရိမ်၏။ ၁

يَوْمَ تُوَلُّونَ مُدْبِرِينَ مَا لَكُم مِّنَ اللّٰهِ مِنْ عَاصِمٍ وَمَن يُضْلِلِ اللّٰهُ فَمَا لَهُ مِنْ هَادٍ ﴿٣٣﴾

၃၃။ အကြင်နေ့တွင် အသင်တို့သည် ကျောခိုင်း၍ ထွက်ပြေးကြပေမည်။ (ထိုနေ့တွင်) အလ္လာဟ်အရှင်မြတ်အား ဆန့်ကျင်၍ ကာကွယ်စောင့်ရှောက်အံ့သောသူဟူ၍ တစ်ဦးတစ်ယောက်မျှပင် အသင်တို့၌ ရှိလိမ့်မည်မဟုတ်ပေ။ စင်စစ်သော်ကား မည်သူ့ကိုမဆို အလ္လာဟ်အရှင်မြတ်သည် လမ်းမှား၌ (ဆက်လက်၍) ထားရှိတော်မူပါလျှင် ထိုသူ၌ လမ်းမှန်သို့ ပို့ပေးအံ့သောသူဟူ၍ တစ်ဦးတစ်ယောက်မျှမရှိပေ။

وَلَقَدْ جَآءَكُمْ يُوسُفُ مِن قَبْلُ بِالْبَيِّنٰتِ فَمَا زِلْتُمْ فِي شَكٍّ مِّمَّا جَآءَكُم بِهِۦ حَتّٰىٓ إِذَا هَلَكَ قُلْتُمْ لَن يَبْعَثَ اللّٰهُ مِنۢ بَعْدِهِۦ رَسُولًا كَذٰلِكَ يُضِلُّ اللّٰهُ مَنْ هُوَ مُسْرِفٌ مُّرْتَابٌ ﴿٣٤﴾

၃၄။ ထိုမှတစ်ပါး ဧကန်မလွဲ (နဗီတမန်တော်) ယူစွဖ်သည် အသင်တို့ထံ ရှေးဦးမဆွက သက်သေအထောက်အထားများ ယူဆောင်ခဲ့လေ၏။ သို့ရာတွင် အသင်တို့သည် ထို(နဗီတမန်တော်)ယူစွဖ် ယူဆောင်ခဲ့သည်တို့နှင့်စပ်လျဉ်း၍ ဒွိဟသံသယ၌ပင် ရှိမြဲရှိနေခဲ့ကြကုန်၏။ နောက်ဆုံးတွင် အသင်တို့သည် ထို(နဗီတမန်တော်)ယူစွဖ် ကွယ်လွန်ခဲ့လေသောအခါ အလ္လာဟ်အရှင်မြတ်သည် ထို(နဗီတမန်တော်)ယူစွဖ်၏ နောက်တွင် မည်သည့်ရစူလ်တမန်တော်တပါးကိုမျှပင် အလျင်း စေလွှတ်တော်မူမည်မဟုတ်ဟု ပြောဆိုခဲ့ကြကုန်၏။ ဤနည်းအတိုင်းပင် အလ္လာဟ်အရှင်မြတ်သည် စည်းကမ်းကျူးလွန်သူ၊ ဒွိဟသံသယ၌ရှိနေသူအား လမ်းမှား၌ပင် ရှိနေစေတော်မူ၏။

---

(၁) အဆိုပါမုအ်မင်န် သူတော်စင်က ဆက်လက်၍ မိမိ၏ အမျိုးသားများအား-အကယ်၍ အသင်တို့သည် ယခုအတိုင်းပင် သွေဖည်ဆန့်ကျင်နေပါက အတိတ်ခေတ်များတွင် သက်ဆိုင်ရာ တမန်တော်များအား သွေဖည်ဆန့်ကျင်ခဲ့ကြသည့်အတွက် ပြစ်ဒဏ်သက်ရောက်သည့် နေ့ဆိုး၊ ရက်ဆိုးများနှင့် တွေ့ကြုံသွားခဲ့ကြ ➤➤

الَّذِينَ يُجَادِلُونَ فِي آيَاتِ اللَّهِ بِغَيْرِ سُلْطَانٍ أَتَاهُمْ ۖ كَبُرَ مَقْتًا عِندَ اللَّهِ وَعِندَ الَّذِينَ آمَنُوا ۚ كَذَٰلِكَ يَطْبَعُ اللَّهُ عَلَىٰ كُلِّ قَلْبِ مُتَكَبِّرٍ جَبَّارٍ ﴿٣٥﴾

၃၅။ အကြင် (စည်းကမ်းကျူးလွန်သူ၊ ဒွိဟသံသယဓဌ်ရှိနေ)သူတို့သည် မိမိတို့ထံ မည်သည့် သက်သေအထောက်အထား၊ အကြောင်းပြချက် တစ်စုံတစ်ရာမျှပင် ရောက်လာခဲ့သည် မရှိဘဲလျက် အလ္လာဟ်အရှင်မြတ်၏ သက်သေလက္ခဏာတော်များ နှင့် စပ်လျဉ်း၍ အငြင်းအခုန် ပြုကြကုန်၏။ (ဤသည်) အလ္လာဟ်အရှင်မြတ်အထံ၌လည်းကောင်း၊ 'မုအ်မင်န်' သက်ဝင်ယုံကြည်သူတို့၏ထံတော်၌ လည်းကောင်း၊ စက်ဆုပ်မှုအားဖြင့် လွန်စွာကြီးကျယ် လှ၏။ အလ္လာဟ်အရှင်မြတ်သည် ဤနည်းအတိုင်းပင် ဘဝင်မြင့် မာန်မာန ထောင်လွှားသူ၊ လွန်စွာ ဆိုးသွမ်း သူ၏ စိတ်နှလုံးတစ်ခုလုံးပေါ်ဝယ် တံဆိပ်ခတ်နှိပ်တော် မူပေသတည်း။

وَقَالَ فِرْعَوْنُ يَا هَامَانُ ابْنِ لِي صَرْحًا لَّعَلِّي أَبْلُغُ الْأَسْبَابَ ﴿٣٦﴾

၃၆။ ထို့နောက် "ဖစ်ရ်အောင်န်" မှာ (ဤသို့) ပြောဆိုခဲ့၏။ အို-"ဟာမာန်" ငါသည် လမ်းများသို့ ရောက်ရှိအံ့သောငှာ အသင်သည် ငါ၏အဖို့ မြင့်စွင့် သော အဆောက်အအုံတစ်ခု တည်ဆောက်လော့။

---

▶▶ ရသည့် အလား အသင်တို့၌လည်း ဤပစ္စက္ခ၌ပင် ထိုသို့သော နေ့ဆိုး၊ရက်ဆိုးများ ဆိုက်ရောက်လာမည်ကို ကျွန်ုပ်စိုးရိမ်မိပါသည်။ အလ္လာဟ်အရှင်မြတ်သည် မည်သူ့ကိုမျှ မတရားပြုမူရန် ရည်ရွယ်တော်မူသည်မရှိ။ လူသားတို့သည်သာလျှင် မိမိတို့ကိုယ်ကို မိမိတို့ပင် ကျူးကျော်စော်ကားလျက် ရှိကြပေသည်။ ထို့ပြင်တစ်ဝ အို-ကျွန်ုပ်၏ အမျိုးသားများ ကျွန်ုပ်သည် အသင်တို့နှင့် ပတ်သက်၍ နောင်တမလွန်ဘဝတွင် ဟစ်အော်ရမည့်နေ့၏ ပြစ်ဒဏ်ကိုလည်း အထူးပင် စိုးရိမ်မိပါသည်။ ထိုနေ့တွင် အသင်တို့အား အလ္လာဟ်အရှင်မြတ်၏ ပြစ်ဒဏ်မှ ကာကွယ်မည့်သူဟူ၍ တစ်ဦးတစ်ယောက်မျှပင် ရှိမည်မဟုတ်ပေဟု သတိပေးခဲ့လေသည်။

"ယောင်မွတ္တနာဒ်" ဟစ်အော်ရမည့်နေ့ဟူသည် ကိယာမတ်နေ့ကို ဆိုလိုသည်။ ဤသည်အများ မုဖတ်စ်စိရ်များ၏ ယူဆချက်ပင်။ ရှာဟ်ဆွာဟိဗ်၏ ယူဆချက်မှာမူ ဟစ်အော်ရမည့်နေ့ဟူသည် ဖိရ်အောင်န်နှင့်တကွ ၎င်း၏နောက်လိုက်ငယ်သားများ ပင်လယ်နီတွင် နစ်မြုပ်ခြင်းခံခဲ့ကြရသည့်နေ့ကို ဆိုလိုသည်။

ကိယာမတ်နေ့တွင် တစ်ဦးနှင့်တစ်ဦး၊ အုပ်စုတစ်စုနှင့်တစ်စု ဟစ်အော်ကြမည့်အကြောင်း ကုရ်အာန် (၇:၄၃-၅၁)တွင်ပါရှိသည်။

أَسْبَابَ السَّمٰوٰتِ فَأَطَّلِعَ إِلَىٰٓ إِلٰهِ مُوسٰى وَإِنِّي لَأَظُنُّهُ كَاذِبًا ۚ وَكَذٰلِكَ زُيِّنَ لِفِرْعَوْنَ سُوٓءُ عَمَلِهِ وَصُدَّ عَنِ السَّبِيلِ ۚ وَمَا كَيْدُ فِرْعَوْنَ إِلَّا فِي تَبَابٍ ﴿٣٧﴾

၃၇။ (ငါသည်) မိုးကောင်းကင်(ပေါ်တက်နိုင်ရန်) လမ်းများသို့ (တက်ရောက်နိုင်အံ့သောငှာ၊) သို့ (တက်ရောက်နိုင်ခဲ့)လျှင် ငါသည် မူစာ၏ကိုးကွယ်ရာ အရှင်မြတ်အား မြင်ပေမည်။ အမှန်စင်စစ်သော်ကား ငါသည် မူစာအား မုသားဝါဒီတစ်ဦးဟုပင် ထင်မြင်ယူဆပေသည်။ စင်စစ်သော်ကား ထိုနည်းအတိုင်းပင် "ဖစ်ရ်အောင်န်"၏အမြင်၌ ၎င်း၏ မကောင်းမှုသည် လှပ တင့်တယ်အောင် ပြုလုပ်ခြင်းခံခဲ့ရလေ၏။ ထိုမှတစ်ပါး ၎င်းသည် (ဖြောင့်မှန်သော)လမ်းမှလည်း တားဆီးခြင်းခံခဲ့ရလေ၏။ အမှန်သော်ကား "ဖစ်ရ်အောင်န်"၏အကြံအစည်မှာ ပျက်စီးခဲ့သည်သာတည်း။

وَقَالَ الَّذِيٓ اٰمَنَ يٰقَوْمِ اتَّبِعُونِ أَهْدِكُمْ سَبِيلَ الرَّشَادِ ﴿٣٨﴾

၃၈။ ထို့ပြင် (ထို)"မုအ်မင်န်" သက်ဝင်ယုံကြည်သူသည် (ဤသို့)ပြောဆိုခဲ့လေ၏။ အို-ကျွန်ုပ်၏ အမျိုးသားတို့၊ အသင်တို့သည် ကျွန်ုပ်၏နောက်သို့ လိုက်ခဲ့ကြလေကုန်၊ ကျွန်ုပ်သည် အသင်တို့အား တရားလမ်းမှန်သို့ ပို့ဆောင်အံ့။ (၁)

يٰقَوْمِ إِنَّمَا هٰذِهِ الْحَيٰوةُ الدُّنْيَا مَتَاعٌ ۠ وَّإِنَّ الْاٰخِرَةَ هِيَ دَارُ الْقَرَارِ ﴿٣٩﴾

၃၉။ အို-ကျွန်ုပ်၏အမျိုးသားတို့၊ ဤမျက်မှောက်လောကီဘဝသည် အနည်းငယ်မျှ အကျိုးကျေးဇူးခံစားမှုသာ ဖြစ်ပေသည်။ သို့ရာတွင် အာခိရတ်တမလွန်ဘဝမှာမူကား ယင်းသည်သာလျှင် ဧကန်စင်စစ်အမြဲ နေထိုင်ရန်ဌာနဖြစ်၏။

---

(၁) ဖိရ်အောင်န်ကလည်း မိမိ၏ အမျိုးသားများအား "ငါသည် အသင်တို့အား မှန်ကန်သောလမ်းကိုသာ ညွှန်ပြနေခြင်းဖြစ်သည်" ဟု လိမ်လည်ပြောဆိုခဲ့၏။ ထိုသည့်စကားကို ချေပရန်အတွက် မုအ်မင်န်သူတော်စင်က ဖြောင့်မတ်မှန်ကန်သောလမ်းမှာ ဖိရ်အောင်န် ပြောပြသောလမ်းမဟုတ်။ အသင်တို့သည် အမှန်တကယ် ဖြောင့်မတ်မှန်ကန်သော လမ်းကိုလိုလားကြပါက ကျွန်ုပ်၏စကားကို နားထောင်ကြ။ ကျွန်ုပ်၏နောက်သို့လိုက်ကြ၊ ကျွန်ုပ်ကိုယ်တိုင် လိုက်နာကျင့်မူလျက်ရှိသော (တမန်တော်မူစာ ဟောကြားနေတော်မူသည့်) လမ်းသည်သာလျှင် ဖြောင့်မတ်မှန်ကန်သော လမ်းဖြစ်သည်ဟု ဤအာယတ်တော်တွင် လာရှိသည့်အတိုင်း ဟောညွှန်ပြသခဲ့လေသည်။

مَنْ عَمِلَ سَيِّئَةً فَلَا يُجْزَىٰٓ إِلَّا مِثْلَهَا ۖ وَمَنْ عَمِلَ صَالِحًا مِّن ذَكَرٍ أَوْ أُنثَىٰ وَهُوَ مُؤْمِنٌ فَأُولَٰٓئِكَ يَدْخُلُونَ ٱلْجَنَّةَ يُرْزَقُونَ فِيهَا بِغَيْرِ حِسَابٍ ٤٠

၄၀။ မည်သူမဆို မကောင်းမှုဒုစရိုက် တစ်စုံတစ်ရာကို ကျင့်မူခဲ့လျှင် ယင်းမကောင်းမှုနှင့် ညီမျှသည့် (ပြစ်ဒဏ်)ကိုသာ အစားပေးခြင်း ခံရပေမည်။ သို့ရာတွင် မည်သူမဆို ယောကျ်ားဖြစ်စေ၊ မိန်းမဖြစ်စေ၊ ကောင်းမြတ်သောအကျင့်သီလကို ကျင့်မူဆောက်တည်ခဲ့မူ ထိုမှတစ်ပါး ထိုသူသည် မုအ်မင်န် သက်ဝင်ယုံကြည်သူလည်း ဖြစ်ပါမူ၊ ထိုကဲ့သို့သောသူတို့မှာ “ဂျန္နတ်” သုခဘုံသို့ ဝင်ရောက်ကြပေမည်။ ထိုသူတို့သည် ယင်း “ဂျန္နတ်” သုခဘုံတွင် ရေတွက်ခြင်းမရှိဘဲ စားနပ်ရိက္ခာကို ချီးမြှင့်ကျွေးမွေးခြင်းကို ခံကြရကုန်အံ့သတည်း။

وَيَٰقَوْمِ مَا لِىٓ أَدْعُوكُمْ إِلَى ٱلنَّجَوٰةِ وَتَدْعُونَنِىٓ إِلَى ٱلنَّارِ ٤١

၄၁။ သို့မှတစ်ပါး၊ အို – ကျွန်ုပ်၏ အမျိုးသားတို့၊ အသို့ပါနည်း၊ ကျွန်ုပ်သည် အသင်တို့အား (ပြစ်ဒဏ်မှ) ကင်းလွတ်ရာသို့ ဖိတ်ခေါ်နေပါသည်။ သို့သော် အသင်တို့သည်မူ ကျွန်ုပ်အား ငရဲမီးသို့ ဖိတ်ခေါ်နေကြပါသည်။

تَدْعُونَنِى لِأَكْفُرَ بِٱللَّهِ وَأُشْرِكَ بِهِۦ مَا لَيْسَ لِى بِهِۦ عِلْمٌ وَأَنَا۠ أَدْعُوكُمْ إِلَى ٱلْعَزِيزِ ٱلْغَفَّٰرِ ٤٢

၄၂။ အသင်တို့သည် ကျွန်ုပ်အား ကျွန်ုပ် အလ္လာဟ်အရှင်မြတ်အား သွေဖည်ငြင်းပယ်ရန်လည်းကောင်း၊ ကျွန်ုပ်တွင် မည်သည့် အသိပညာ၊ မည်သည့်သက်သေသာဓက တစ်စုံတစ်ရာမျှမရှိသောအရာကို ကျွန်ုပ်ထိုအရှင်မြတ်နှင့် တွဲဖက်နိုင်းယှဉ်ကိုးကွယ်ရန်လည်းကောင်း၊ ဖိတ်ခေါ်ကြကုန်၏။ အမှန်စင်စစ်သော်ကား ကျွန်ုပ်သည် အသင်တို့အား လွန်စွာနိုင်နင်း၊ လွှမ်းမိုးတော်မူသော၊ အလွန်တရာ ခွင့်လွှတ်ချမ်းသာပေးသနားတော်မူသော အရှင်မြတ်အထံတော်သို့ပင် ဖိတ်ခေါ်လျက်ရှိပေသည်။

၄၃။ မချွတ်မလွဲ ကျွန်ုပ်အား၊ အသင်တို့ ဖိတ်ခေါ်နေသောအရာသည် ဤပစ္စုပ္ပန်လောက၌လည်း ဟစ်ခေါ်ဘသရန်မထိုက်ပေ။ အာခိရတ်တမလွန်ဘဝ၌လည်း ဟစ်ခေါ်တသရန်မထိုက်ပေ။ [၁] ထို့ပြင် ကျွန်ုပ်တို့သည် အလ္လာဟ်အရှင်မြတ်အထံတော်သို့ ပြန်ကြရပေမည်။ ထိုမှတစ်ပါး စည်းကမ်းကျူးလွန်သောသူတို့သည် ငရဲသားများပင် ဖြစ်ကြကုန်၏။

لَا جَرَمَ أَنَّمَا تَدْعُونَنِيٓ إِلَيْهِ لَيْسَ لَهُۥ دَعْوَةٌ فِي ٱلدُّنْيَا وَلَا فِي ٱلْـَٔاخِرَةِ وَأَنَّ مَرَدَّنَآ إِلَى ٱللَّهِ وَأَنَّ ٱلْمُسْرِفِينَ هُمْ أَصْحَٰبُ ٱلنَّارِ ﴿٤٣﴾

၄၄။ စင်စစ်သော်ကား မကြာမြင့်မီ အသင်တို့သည် ကျွန်ုပ်တို့ အသင်တို့အား ပြောဆိုသောစကားများကို ပြန်လည်၍ သတိရရှိကြပေမည်။ ထို့ပြင် ကျွန်ုပ်မူကား မိမိအရေးကိစ္စကို အလ္လာဟ်အရှင်မြတ် အထံတော်သို့ လွှဲအပ်လိုက်ပြီ။ ဧကန်အမှန် အလ္လာဟ်အရှင်မြတ်သည် (မိမိ)ကျွန်တို့အား ကောင်းမွန်စွာ ကြည့်ရှုစောင့်ရှောက်တော်မူသောအရှင်မြတ်ပင် ဖြစ်တော်မူ၏။

فَسَتَذْكُرُونَ مَآ أَقُولُ لَكُمْ ۚ وَأُفَوِّضُ أَمْرِيٓ إِلَى ٱللَّهِ ۚ إِنَّ ٱللَّهَ بَصِيرٌۢ بِٱلْعِبَادِ ﴿٤٤﴾

၄၅။ ထို့နောက် အလ္လာဟ်အရှင်မြတ်သည် ထို ("မုအ်မင်န်" သက်ဝင်ယုံကြည်သူအား ၎င်းတို့ ကြံစည်ခဲ့ကြကုန်သောအကြံအစည်၏ဘေးအန္တရာယ်တို့မှ ဖယ်ရှားပေးတော်မူခဲ့၏။ သို့ရာတွင် 'ဖစ်ရ်အောင်န်'၏ ခြွေရံသင်းပင်တို့ကိုမူကား ဆိုးယုတ်သော ပြစ်ဒဏ်သည် ဝန်းဝိုင်းခဲ့ပေသည်။

فَوَقَىٰهُ ٱللَّهُ سَيِّـَٔاتِ مَا مَكَرُوا۟ ۖ وَحَاقَ بِـَٔالِ فِرْعَوْنَ سُوٓءُ ٱلْعَذَابِ ﴿٤٥﴾

---

(၁) ဤအာယတ်တော်၏ အလိုသဘောမှာ-အဆိုပါ မုအ်မင်န်သူတော်စင်က-မိမိ၏ အမျိုးသားများအား အသင်တို့သည် ကျွန်ုပ်အား အကြင်အရာကို ကိုးကွယ်ရန် ဖိတ်ခေါ်နေကြသည်။ အမှန်မှာ ထိုအရာသည် ဤပစ္စက္ခတွင် လောကီရေးရာ တစ်စုံတစ်ရာနှင့် စပ်လျဉ်း၍ ကူညီရန် ဟစ်ခေါ်တသထိုက်သည်လည်းမဟုတ်၊ နောင်တမလွန်ဘဝတွင် ပြစ်ဒဏ်တစ်စုံတစ်ရာကို ကာကွယ်ဖယ်ရှားပေးရန် ဟစ်ခေါ်တသထိုက်သည်လည်းမဟုတ်။ ဆိုလိုသည်ကား အသင်တို့၏ ကိုးကွယ်ရာများသည် ဤပစ္စက္ခတွင်လည်း အသုံးမဝင်၊ နောင်တမလွန်ဘဝတွင်လည်း အသုံးမကျ၊ အချည်းနှီးမျှသာဖြစ်သည်။ အချည်းနှီးမျှသာဖြစ်သော အရာများဘက်သို့ မည်သူ့အားမျှ မဖိတ်ခေါ်ရာဟု တုံ့ပြန်ဖြေကြားခဲ့လေသည်။ ကြည့်-ထာနဝီ။

**တစ်နည်း** အသင်တို့၏ ကိုးကွယ်ရာများသည် ဤပစ္စက္ခတွင်လည်း တစ်ဦးတစ်ယောက်အား ➤➤

ٱلنَّارُ يُعْرَضُونَ عَلَيْهَا غُدُوًّا
وَعَشِيًّا ۖ وَيَوْمَ تَقُومُ
ٱلسَّاعَةُ أَدْخِلُوٓا۟ ءَالَ
فِرْعَوْنَ أَشَدَّ ٱلْعَذَابِ ﴿٤٦﴾

၄၆။ ထိုသူတို့မှာ နံနက်ယံ၌လည်းကောင်း၊ ညနေချမ်း၌လည်းကောင်း၊ ငရဲမီး၏ရှေ့ဝယ် ထုတ်ဆောင်ပြသခြင်းကို ခံကြရကုန်၏။ ထိုမှတစ်ပါး ကိယာမတ်အချိန် ဆိုက်ရောက်၍လာသောနေ့၌မူကား၊ အသင်တို့သည် "ဖစ်ရ်အောင်န်"၏ခြွေရံသင်းပင်းတို့အား ပြင်းထန်လှစွာသောပြစ်ဒဏ်တွင် ဝင်ရောက်စေကြလေကုန်(ဟု အလ္လာဟ်အရှင်မြတ်သည် "မလာအိကဟ်" ကောင်းကင်တမန်တို့အား မိန့်တော်မူအံ့သတည်း။)

وَإِذْ يَتَحَآجُّونَ فِى ٱلنَّارِ
فَيَقُولُ ٱلضُّعَفَٰٓؤُا۟ لِلَّذِينَ
ٱسْتَكْبَرُوٓا۟ إِنَّا كُنَّا لَكُمْ
تَبَعًا فَهَلْ أَنتُم مُّغْنُونَ
عَنَّا نَصِيبًا مِّنَ ٱلنَّارِ ﴿٤٧﴾

၄၇။ ထို့ပြင် ပြန်လည်သတိရပါလေ။ ၎င်းတို့သည် ငရဲမီး၌ အငြင်းအခုံပြုလုပ်ကြသောအခါဝယ် အောက်လက်ငယ်သားတို့က အကြီးအကဲတို့အား "ဧကန်စင်စစ် ကျွန်ုပ်တို့သည် အသင်တို့၏ နောက်လိုက်များပင် ဖြစ်ခဲ့ကြပေရာ၊ အသင်တို့သည် ကျွန်ုပ်တို့မှ ငရဲမီး တစ်စိတ်တစ်ဒေသကို ဖယ်ရှားပေးနိုင်ကြလေသလော" ဟုပြောဆိုကြပေမည်။

قَالَ ٱلَّذِينَ ٱسْتَكْبَرُوٓا۟ إِنَّا
كُلٌّ فِيهَآ إِنَّ ٱللَّهَ قَدْ حَكَمَ
بَيْنَ ٱلْعِبَادِ ﴿٤٨﴾

၄၈။ (ထိုအခါ) အကြီးအကဲတို့က "ဧကန်စင်စစ် ကျွန်ုပ်တို့အားလုံးတို့သည်ပင် ယင်းငရဲမီး၌ ရှိနေကြကုန်၏။ ဧကန်မလွဲ အလ္လာဟ်အရှင်မြတ်သည် (မိမိ) ကျွန်တို့၏အကြားဝယ် (ယတိပြတ်) စီရင်ဆုံးဖြတ်တော်မူလိုက်လေပြီ" ဟု ပြောဆိုဖြေကြား)ကြပေမည်။ [၁]

---

➤➤ ဖိတ်ခေါ်ခဲ့သည်မရှိ။ နောင်တမလွန်ဘဝတွင်လည်း ဖိတ်ခေါ်မည်မဟုတ်။ ဆိုလိုသည်ကား အသင်တို့၏ ကိုးကွယ်ရာများသည် မိမိတို့အား ကိုးကွယ်ရန် သူတစ်ပါးကို ဖိတ်ခေါ်ရန်ဝေးစွ၊ ၎င်းတို့၌ ဖိတ်ခေါ်နိုင်စွမ်းပင်မရှိဟူ၍ အချို့က အနက်ဖွင့်ကြပေသည်။

(၁) ဆိုလိုသည်ကား-ကာဖိရ်များသည် ငရဲဘုံသို့လားကြသောအခါ ငရဲဘုံတွင် နောက်လိုက်ငရဲသားများက အကြီးအကဲများအား-လူ့လောကတွင် အသင်တို့သည် ကျွန်ုပ်တို့၏ အကြီးအကဲများ ဖြစ်ခဲ့ကြသည်။ ကျွန်ုပ်တို့အား ရှေ့ဆောင်ခဲ့ကြသည်။ အမျိုးမျိုး စေခိုင်းခဲ့ကြသည်။ ကျွန်ုပ်တို့သည်လည်း အသင်တို့စေသမျှ ခိုင်းသမျှကို လိုက်နာခဲ့ကြသည်။ သို့လိုက်နာခဲ့ကြသည့်အတွက်ကြောင့် ယခုငရဲသို့လားကြရပြီ။ သို့ဖြစ်ရာ အသင်တို့သည် မိမိတို့၏ နောက်လိုက်ငယ်သားတို့အား သနားညှာတာ ထောက်ထားသောအားဖြင့် ယခု ကျွန်ုပ်တို့ ➤➤

وَقَالَ الَّذِيْنَ فِى النَّارِ لِخَزَنَةِ جَهَنَّمَ ادْعُوْا رَبَّكُمْ يُخَفِّفْ عَنَّا يَوْمًا مِّنَ الْعَذَابِ ﴿٤٩﴾

၄၉။ ထို့နောက် ငရဲမီး၌ရှိကြသူ(အားလုံး)တို့သည် "ဂျဟန္နမ်" ငရဲဘုံကိုစောင့်ကြပ်သော ("မလာအိကဟ်" ကောင်းကင်တမန်)တို့အား"အသင်တို့သည် မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်အထံတော်တွင် ဆုတောင်းပတ္ထနာပြုကြပါလျှင် ထိုအရှင်မြတ်သည် တစ်နေ့တလေမျှပင် ပြစ်ဒဏ်ကို ကျွန်ုပ်တို့မှ ပေါ့လျော့စေတော်မူမည်" ဟု ပြောဆို (အသနားခံ)ကြပေမည်။

قَالُوْٓا اَوَلَمْ تَكُ تَاْتِيْكُمْ رُسُلُكُمْ بِالْبَيِّنٰتِ ؕ قَالُوْا بَلٰى ؕ قَالُوْا فَادْعُوْا ۚ وَمَا دُعٰٓؤُا الْكٰفِرِيْنَ اِلَّا فِىْ ضَلٰلٍ ﴿٥٠﴾

၅၀။ (ထိုရောအခါဝယ်) ထိုအစောင့်အကြပ်တို့က "အသင်တို့၏ရစူလ်တမန်တော်များသည် အသင်တို့ထံ ထင်ရှားစွာသော သက်သေ လက္ခဏာတော်များကို ယူဆောင်လာလေ့ ရှိခဲ့ကြသည် မဟုတ်လော" ဟု ပြောဆို(မေးမြန်း)လေသော်၊ ၎င်းတို့က "အဘယ်ကြောင့် မဟုတ်ပါသနည်း။" (အမှန်ပင် ယူဆောင်ခဲ့ကြပေသည်)ဟု ပြောဆို(ဖြေကြား)ကြပေမည်။ (ထိုအခါ) ထိုအစောင့်အကြပ်တို့က "သို့ဖြစ်လျှင် အသင်တို့ကိုယ်တိုင်ပင် ဆုတောင်းပတ္ထနာ ပြုကြကုန်လော့။" ဟု ပြန်ကြားကြပေမည်။ စင်စစ်သော်ကား (နောင်တမလွန်ဘဝ၌) "ကာဖိရ်" သွေဖည်ငြင်းပယ်သော သူတို့၏ ဆုတောင်းပတ္ထနာသည် အချည်းနှီးပင် ဖြစ်ပေသတည်း။

---

➤➤ ခံစားနေကြရသော ပြစ်ဒဏ်တစ်စိတ်တစ်ဒေသကို ဖယ်ရှားပေးကြပါဟု မေတ္တာရပ်ခံကြပေမည်။ ထိုအခါ အကြီးအကဲများက-နောက်လိုက်ငယ်သားများအား-အသင်တို့သာ ငရဲလားနေကြသည်မဟုတ်၊ ငါတို့သည်လည်း ငရဲလားလျက် ရှိကြပေသည်။ အလ္လာဟ်အရှင်မြတ်သည် ငါတို့အနက် လူတိုင်းလူတိုင်းနှင့်ပတ်သက်၍ ထိုက်သည့်အားလျော်စွာ စီရင်ဆုံးဖြတ်တော်မူပြီးဖြစ်သည်။ ထိုအရှင်မြတ်၏ အဆုံးအဖြတ်တွင် အပြောင်းအလဲမရှိ၊ အတည်ဖြစ်တော်မူသည်။ ယခုမူမည်သူကမျှ မည်သူ့ကိုမျှ တစ်စုံတစ်ရာ အကျိုးပြုနိုင်သည်မရှိ။ ငါတို့သည် မိမိတို့ကိုယ်တိုင် မိမိတို့ခံစားနေကြရသော ဒုက္ခကိုမျှ မဖယ်ရှားနိုင်ကြသည်ဖြစ်ရာ အသင်တို့၏ဒုက္ခကို အသို့လျှင် ဖယ်ရှားပေးနိုင်ကြအံ့နည်းဟု ဖြေကြားကြပေမည်။ ယင်းသို့ဖြင့် နောက်လိုက်ငယ်သားများသည် မိမိတို့၏ အကြီးအကဲများဘက်မှ မျှော်လင့်ချက်ကင်းသွားကြပေမည်။

إِنَّا لَنَنصُرُ رُسُلَنَا وَالَّذِينَ آمَنُوا فِي الْحَيَاةِ الدُّنْيَا وَيَوْمَ يَقُومُ الْأَشْهَادُ ﴿٥١﴾

၅၁။ မလွဲဧကန် ငါအရှင်မြတ်သည် မိမိရရူလ် တမန်တော်တို့အားလည်းကောင်း၊ "မုအ်မင်န်" သက်ဝင် ယုံကြည်သူတို့အားလည်းကောင်း၊ ၎င်းမျက်မှောက် လောကီဘဝ၌လည်း ကူညီစောင်မလျက်ရှိတော်မူ၏။ သက်သေများရပ်ကြမည့် ("ကိယာမတ်" ရှင်ပြန်ထမည့်) နေ့တွင်လည်း (ကူညီစောင်မတော်မူမည်။)

يَوْمَ لَا يَنفَعُ الظَّالِمِينَ مَعْذِرَتُهُمْ وَلَهُمُ اللَّعْنَةُ وَلَهُمْ سُوءُ الدَّارِ ﴿٥٢﴾

၅၂။ အကြင်နေ့တွင် ကျူးလွန်သူတို့အား ၎င်းတို့၏ အကြောင်းပြချက်သည် အကျိုးမပေးမည်သာမက၊ ၎င်းတို့၌ ကရုဏာတော်မှ ကင်းဝေးခြင်းသည်လည်း ရှိပေမည်။ ထိုမှတစ်ပါး ၎င်းတို့၌ ဆိုးရွားလှသော ဌာနလည်းရှိပေမည်။ ၁

(၁) အလ္လာဟ်အရှင်မြတ်သည် မိမိ၏တမန်တော်များနှင့် အီမာန် သက်ဝင်ယုံကြည်ကြကုန်သော မုအ်မင်န်တို့အား ဤပစ္စက္ခတွင်လည်း စောင့်ရှောက် ကူညီတော်မူသည်သာဖြစ်သည်။ တမန်တော်များနှင့် မုအ်မင်န်များသည် အစ္စလာမ်ရေးရာများကို ဆောင်ရွက်ရာတွင် အဘယ်မျှ အနှောင့်အယှက်များနှင့် တွေ့ကြုံခဲ့ကြရလင့်ကစား နောက်ဆုံးတွင် အလ္လာဟ်အရှင်မြတ်၏ အကူအညီဖြင့် အောင်မြင်ကြသည်သာ ဖြစ်ပေသည်။ တမန်တော်များနှင့် မုအ်မင်န်များသည် အသိပညာဆိုင်ရာများတွင် လည်းကောင်း၊ ကျိုးကြောင်းပြရာများတွင် လည်းကောင်း အမြဲတစေ အောင်မြင်ခဲ့ကြသည်သာမက ရုပ်ပိုင်းဆိုင်ရာများတွင်လည်း နောက်ဆုံးတွင် ၎င်းတို့သည်သာ အောင်မြင်ခဲ့ကြသည်သာ ဖြစ်ပေသည်။ အမှန်တရားကို ဆန့်ကျင်နေသော ရန်သူများသည် တစ်ခါတစ်ရံ ခေတ္တခဏ ရေမြှုပ်ပမာ အသာရရှိနေခဲ့ကြသည်ဟု ထင်မှတ်ရသော်လည်း နောက်ဆုံးတွင် ၎င်းတို့သည် ရှုံးနိမ့်ခဲ့ကြရသည်သာ ဖြစ်ပေသည်။ ဤကား အစ္စလာမ့်သမိုင်းတွင် အထင်အရှားပင်။ ဤအာယတ်တော်တွင် ဖော်ပြပါရှိသော မုအ်မင်န်များဟူသည် မုအ်မင်န်ဂုဏ်ရည်များနှင့် ပြည့်စုံသော၊ တိကျမှန်ကန်သော မုအ်မင်န် အစစ်အမှန်များကိုသာ ဆိုလိုသည်။ ကြည့်-ကုရ်အာန် (၃း၁၃၉)။

စစ်မှန်သော မုအ်မင်န်များ၏ ဂုဏ်ရည်များကို ကုရ်အာန်ကျမ်းမြတ်တွင် နေရာအနှံ့အပြား၌ တွေ့ရှိရပေသည်။ ဤအကြောင်းကို ကုရ်အာန် (၃၀း၄၇)တွင်လည်း မိန့်ဆိုထားတော်မူသည်။

အလ္လာဟ်အရှင်မြတ်သည် တမန်တော်များနှင့် မုအ်မင်န်များအား ဤပစ္စက္ခတွင်လည်း ကူညီတော်မူ၏။ နောင်တမလွန်ဘဝတွင်လည်း ကူညီတော်မူမည်ဖြစ်၏။ ဤပစ္စက္ခတွင် ကူညီတော်မူရာ၌ သို့လောသို့သော တွေးတောစရာ ကျန်ရှိနေနိုင်သော်လည်း နောင်တမလွန်ဘဝတွင်မူ အလ္လာဟ်အရှင်မြတ်သည် တမန်တော်များနှင့် စစ်မှန်သော မုအ်မင်န်တို့အား ကမ္ဘာ့အိမ်ထောင်စုကြီး တစ်ခုလုံး၏ရှေ့မှောက်၌ ပြတ်သားထင်ရှားစွာ ကူညီတော်မူမည်ဖြစ်သည်။ မြှောက်စားတော်မူမည်ဖြစ်သည်။ အမှန်တရား၏ ရန်သူများဖြစ်ကြသော ကာဖိရ်၊ မုရှ်ရစ်က်တို့သည်လည်း နောင်တမလွန်ဘဝတွင် ကမ္ဘာ့အိမ်ထောင်စုကြီး တစ်ခုလုံး၏ရှေ့မှောက်၌ အထင်အရှား ➤➤

وَلَقَدْ اٰتَيْنَا مُوْسَى الْهُدٰى وَاَوْرَثْنَا بَنِيْٓ اِسْرَآءِيْلَ الْكِتٰبَ ۙ﴿٥٣﴾

၅၃။ ထို့ပြင် မလွဲဧကန် ငါအရှင်မြတ်သည် "မူစာ" အား တရားလမ်းညွှန်ကို ချီးမြှင့်ပေးသနားတော်မူခဲ့ပြီး ဖြစ်၏။ ထိုမှတစ်ပါး ငါအရှင်မြတ်သည် အီစ်ရာအီလီ အမျိုးသားတို့အား ကျမ်းဂန်ကို အမွေပေးတော်မူခဲ့၏။

هُدًى وَّذِكْرٰى لِاُولِى الْاَلْبَابِ ﴿٥٤﴾

၅၄။ အသိဉာဏ်ရှိသူတို့အဖို့ တရားလမ်းညွှန်အဖြစ် လည်းကောင်း၊ ဆုံးမဩဝါဒအဖြစ်လည်းကောင်း၊

فَاصْبِرْ اِنَّ وَعْدَ اللّٰهِ حَقٌّ وَّاسْتَغْفِرْ لِذَنْۢبِكَ وَسَبِّحْ بِحَمْدِ رَبِّكَ بِالْعَشِيِّ وَالْاِبْكَارِ ﴿٥٥﴾

၅၅။ သို့ဖြစ်ရပေရာ (အို-နဗီတမန်တော်) အသင် သည် သည်းခံပါလေ၊ မလွဲဧကန် အလ္လာဟ်အရှင်မြတ် ၏ ကတိပြုချက်သည် မှန်ကန်သော ကတိပြုချက်ပင် ဖြစ်၏။ ၎င်းပြင် အသင်သည် မိမိ၏ ချို့တဲ့မှုနှင့် စပ်လျဉ်း၍ လွတ်ငြိမ်းချမ်းသာခွင့်ကို ပန်ကြားပါလေ။ ထိုမှတစ်ပါး အသင်သည် မိမိအား ဖန်ဆင်းမွေးမြူ တော်မူသော အရှင်မြတ်ကို ချီးမွမ်းထောပနာပြုခြင်း နှင့်တကွ (ထိုအရှင်မြတ်) စင်ကြယ်သန့်ရှင်းတော် မူကြောင်းကို ညနေချမ်း၌လည်းကောင်း၊ နံနက်ယံ၌ လည်းကောင်း၊ မြွက်ဆိုပါလေ။

اِنَّ الَّذِيْنَ يُجَادِلُوْنَ فِيْٓ اٰيٰتِ اللّٰهِ بِغَيْرِ سُلْطٰنٍ اَتٰىهُمْ ۙ اِنْ فِيْ صُدُوْرِهِمْ اِلَّا كِبْرٌ مَّا هُمْ بِبَالِغِيْهِ ۚ فَاسْتَعِذْ بِاللّٰهِ ۭ اِنَّهٗ هُوَ

၅၆။ ဧကန်စင်စစ် မိမိတို့ထံ မည်သည့်သက်သေ အထောက်အထား တစ်စုံတစ်ရာမျှ ရောက်လာခဲ့သည် မရှိဘဲလျက်ပင် အလ္လာဟ်အရှင်မြတ်၏ အာယတ်တော် များ၌ အငြင်းပွားလျက် ရှိကြကုန်သောသူတို့၏ စိတ် နှလုံးများတွင် မာန်မာနကြီးခြင်းမှတစ်ပါး၊ အခြား တစ်စုံတစ်ရာမျှမရှိပေ။ (စင်စစ်သော်ကား) ၎င်းတို့သည် ယင်း မာန်မာနကြီးနိုင်သော အဆင့်အတန်းသို့ ရောက်ရှိ နိုင်ကြမည့်သူများမဟုတ်ပြီ။

➤➤ အရှက်တကွဲ အကျိုးနည်း ဖြစ်ကြရပေမည်။ ၎င်းတို့၏ မည်သည့်အကြောင်းပြချက်၊ ဆင်ခြေကန်ချက်၊ အသနားခံချက်မျှ ၎င်းတို့အား မည်သို့မျှ အကျိုးပေးမည် မဟုတ်ပေ။ ၎င်းတို့သည် ကရုဏာတော်နှင့် ဝေးခြင်းကြီးမကဝေးကာ ငရဲဘုံသို့ ထာဝစဉ်လားကြပေမည်။

السَّمِيعُ الْبَصِيرُ ٥٦

သို့ဖြစ်ပေရာ (အို-နဗီတမန်တော်) အသင်သည် အလ္လာဟ်အရှင်မြတ်၏ အကာအကွယ်ပေးမှုကို တောင်းခံပါလေ။ ဧကန်မလွဲ ထိုအရှင်မြတ်သည် အကြွင်းမဲ့ကြားတော်မူသောအရှင်၊ အကြွင်းမဲ့မြင်တော်မူသောအရှင်၊ ဖြစ်တော်မူပေသတည်း။

لَخَلْقُ السَّمٰوٰتِ وَالْاَرْضِ اَكْبَرُ مِنْ خَلْقِ النَّاسِ وَلٰكِنَّ اَكْثَرَ النَّاسِ لَا يَعْلَمُوْنَ ٥٧

၅၇။ အမှန်ပင် မိုးကောင်းကင်များကို လည်းကောင်း၊ ပထဝီမြေကိုလည်းကောင်း၊ ဖန်ဆင်းခြင်းသည် လူတို့အား ဖန်ဆင်းခြင်းထက် ပို၍ ကြီးကျယ်(ခက်ခဲလှ)ပေသည်။ သို့ရာတွင် အများဆုံးသောသူတို့မှာမူကား သိနားလည်ကြသည် မဟုတ်ပေ။ [၁]

وَمَا يَسْتَوِى الْاَعْمٰى وَالْبَصِيْرُ ۙ وَالَّذِيْنَ اٰمَنُوْا وَعَمِلُوا الصّٰلِحٰتِ وَلَا الْمُسِٓیْءُ ؕ قَلِيْلًا مَّا تَتَذَكَّرُوْنَ ٥٨

၅၈။ ထို့ပြင် မျက်မမြင်နှင့် စက္ခုအလင်းရသောသူတို့သည် မတူကြပြီ။ ထိုနည်းတူစွာ "အီမာန်" သက်ဝင်ယုံကြည်၍ ကောင်းမြတ်သော အကျင့်သီလများကို ကျင့်မူဆောက်တည်ကြသောသူတို့နှင့် မကောင်းမှုကို ကျူးလွန်သောသူတို့သည်လည်း မတူကြပေ။ (စင်စစ်မှာကား) အသင်တို့သည် အနည်းငယ်မျှသာ ဆင်ခြင်ကြပေသည်။

---

(၁) အထက်တွင် အချို့ကာဖိရ်များသည် အထင်ကြီးမှု၊ ဘဝင်မြင့်မှုရောဂါကြောင့် အမှန်တရားကို မနာခံကြသည့် အကြောင်းပါရှိ၏။ ယင်းသို့ မနာခံကြရာတွင် အခြားအကြောင်း တစ်ရပ်လည်းရှိသေး၏။ ထိုအကြောင်းကား သေပြီးနောက် ပြန်လည်ရှင်ထကြရမည်ကို မယုံကြည်ခြင်းပင်။ (ဝါ)နောင်ရေးအတွက် ပူပန်သောက မရှိခြင်းပင်။ ထို့အတွက် ဤအာယတ်တော်တွင် ပြန်လည်ရှင်ထရမည့် အကြောင်းကိုပင် ဆက်စပ် မိန့်ဆိုထားတော်မူသည်။

ဤအာယတ်တော်၏ အလိုသဘောမှာ မိုးမြေကို ဖန်ဆင်းခြင်းသည် လူသားတို့အား ဖန်ဆင်းခြင်းထက် ပို၍ကြီးကျယ်သည်။ ခက်ခဲသည်။ ဤသည် အထင်အရှားပင်။ မိုးမြေများကိုလည်း အလ္လာဟ်အရှင်မြတ်ပင် ဖန်ဆင်းထားတော်မူသည်။ ဤသည်ကို ကာဖိရ်များသည်လည်း လက်ခံကြသည်။ သို့ဖြစ်ရာ အလွန်မြင့်စွင့်သော၊ ထုထည်အလွန်ကြီးမားသော မိုးမြေများကို စတင်ဖန်ဆင်းတော်မူနိုင်သော အလ္လာဟ်အရှင်မြတ်အဖို့ လူသားတို့အား ပြန်လည်ဖန်ဆင်းခြင်းမှာ အသို့လျှင် အခက်အခဲရှိနိုင်အံ့နည်း။ ပို၍ပင်လွယ်ကူမည် မဟုတ်ပါလော။ နောင်တမလွန်ဘဝ မရှိပါက ကျိုးပြစ်ခံစံရမည် မဟုတ်ပါက တမန်တော်များအား စေလွှတ်၍ ဒေသနာတော်များကို ဟောကြားစေခြင်းသည် အဓိပ္ပာယ်ရှိတော့မည် မဟုတ်ပေ။ လူ့လောကတွင် လူတော်လူကောင်း ဖြစ်နေကြရန်လည်း မလိုတော့ပေ။ ဤသို့ကား အလျှင်းမဖြစ်နိုင်ပေ။

إِنَّ السَّاعَةَ لَآتِيَةٌ لَّا رَيْبَ فِيهَا وَلَٰكِنَّ أَكْثَرَ النَّاسِ لَا يُؤْمِنُونَ ﴿٥٩﴾

၅၉။ ကေန်မလွဲ "ကိယာမတ်" ရှင်ပြုထမည့် (အချိန်ကာလ)သည် မုချ ဆိုက်ရောက်လာတော့မည်သာ။ ယင်း"ကိယာမတ်"နှင့်စပ်လျဉ်း၍ ဒွိဟာသံသယ အလျှင်းမရှိ။ သို့ရာတွင် မြောက်မြားစွာသော သူတို့ကား သက်ဝင်ယုံကြည်ကြသည် မဟုတ်ပေ။

وَقَالَ رَبُّكُمُ ادْعُونِي أَسْتَجِبْ لَكُمْ ۚ إِنَّ الَّذِينَ يَسْتَكْبِرُونَ عَنْ عِبَادَتِي سَيَدْخُلُونَ جَهَنَّمَ دَاخِرِينَ ﴿٦٠﴾

၆၀။ ထို့ပြင် အသင်တို့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်သည် (ဤသို့)မိန့်ကြားတော်မူခဲ့၏။ အသင်တို့သည် ငါအရှင်မြတ်ထံတော်တွင် ဆုတောင်းပတ္ထနာပြုကြလေကုန်။ ငါအရှင်မြတ်သည် အသင်တို့၏ ဆုတောင်းပတ္ထနာပြုချက်ကို လက်ခံတော်မူမည်။ ကေန်စင်စစ် ငါအရှင်မြတ်အား ဆည်းကပ်ကိုးကွယ်ခြင်းမှ မောက်မာကြကုန်သောသူတို့မှာမူကား မကြာမြင့်မီပင် ဂုဏ်အသရေယုတ်ည့်စွာနှင့် "ဂျဟန္နမ်" ငရဲဘုံသို့ ဝင်ရောက်ကြကုန်အံ့သတည်း။ [၁]

(၁) ကာဖိရ်များသည် အလ္လာဟ်အရှင်မြတ် တစ်ပါးတည်း တည်ရှိတော်မူသည့်အကြောင်းနှင့် စပ်လျဉ်း၍လည်း အထောက်အထားမရှိ။ အငြင်းအခုံပြုကာ ထိုအရှင်မြတ်နှင့်တွဲဖက်၍ အခြားအရာများကို ဆည်းကပ်ကိုးကွယ်နေခဲ့ကြ၏။ ထို့အတွက် အလ္လာဟ်အရှင်မြတ်က ဤအာယတ်တော်တွင် မိမိထံတော်၌သာ ဆုပန်ကြားရမည့်အကြောင်း၊ မိမိသည် (မလိုလားအပ်သော၊ မလျော်ကန်သော ပန်ကြားချက်များမှတစ်ပါး အခြား) ဆုပန်ကြားချက်အားလုံးကို လက်ခံတော်မူမည်ဖြစ်ကြောင်း၊ မောက်မာပလွှား၍ မိမိအား သွေဖည်သူများသည် မကြာမီအတွင်း အရှက်တကွဲ အကျိုးနည်းဖြစ်ကာ ငရဲသို့လားကြရမည့်အကြောင်း မိန့်ဆို သတိပေးထားတော်မူသည်။ ကြည့်-ထာနဝီ။

လူသားတို့သည် အမှန်မှာ အလ္လာဟ်အရှင်မြတ်၏ အဖန်ဆင်းခံ ကျွန်များသာ ဖြစ်ကြပေသည်။ ကျွန်များသည် ကျွန်ပီပီ မိမိတို့၏ အရှင်သခင်ထံတော်၌ ပန်ကြားရမည်သာဖြစ်သည်။ မိမိ၏ အရှင်သခင့်ထံ၌ ဆုပန်ကြားခြင်းသည် ကျွန်ပီသမှုဖြစ်သည်။ ဆုမပန်ကြားခြင်းသည် မောက်မာမှုဖြစ်သည်။

ဤအာယတ်တော်ကို ထောက်ရှုခြင်းအားဖြင့် အလ္လာဟ်အရှင်မြတ်သည် မိမိ၏ကျွန်များ၏ ပန်ကြားချက်များကို ကြားသိတော်မူကြောင်း သိရှိရပေသည်။ သို့ရာတွင် ထိုအရှင်မြတ်၌ ကြားနာတော်မူသမျှသော ပန်ကြားမှုအရပ်ရပ်ကို ချွင်းချက်မရှိ လက်ခံတော်မူရကောင်းစေ ဟူ၍လည်း တာဝန်မရှိ၊ ထိုအရှင်မြတ်သည် မိမိအလိုတော်ရှိပါက-လျော်ကန်သင့်မြတ်သော ပန်ကြားချက်များကို လက်ခံ ဖြည့်စွမ်းပေးတော်မူသည်။ ကြည့်-ကုရ်အာန်(၆း၄၁)။ အချုပ်ဆိုရသော် အလ္လာဟ်အရှင်မြတ် ထံတော်၌ ဆုပန်ကြားခြင်းသည် ထိုအရှင်မြတ်အား ဆည်းကပ်ကိုးကွယ်မှုတစ်ရပ်ပင်။ ဆည်းကပ်ကိုးကွယ်မှုတစ်ရပ်သာမက ဆည်းကပ်ကိုးကွယ်မှု၏ဦးနှောက်(ဝါ)အချုပ်ပင်။

اَللّٰهُ الَّذِيْ جَعَلَ لَكُمُ الَّيْلَ لِتَسْكُنُوْا فِيْهِ وَالنَّهَارَ مُبْصِرًا ۭ اِنَّ اللّٰهَ لَذُوْ فَضْلٍ عَلَى النَّاسِ وَلٰكِنَّ اَكْثَرَ النَّاسِ لَا يَشْكُرُوْنَ ٦١

၆၁။ အလ္လာဟ်အရှင်မြတ်သည်ပင် အကြင်အရှင်မြတ် ဖြစ်တော်မူ၏။ ထိုအရှင်မြတ်သည် အသင်တို့အဖို့ ညဉ့်ကို ထိုညဉ့်၌အနားယူကြအံ့သောငှာ ပြုလုပ်တော်မူခဲ့သည့်ပြင်၊ နေ့ကို မြင်နိုင်စွမ်းပေးသောအရာ အဖြစ် ပြုလုပ်ထားတော်မူ၏။

ဧကန်မလွဲ အလ္လာဟ်အရှင်မြတ်သည် လူတို့ အပေါ်ဝယ် အမှန်ပင် ကျေးဇူးတော်ရှင်ဖြစ်တော်မူ၏။ သို့တစေလည်း မြောက်မြားစွာသော သူတို့မှာ ကျေးဇူးတော်ကို သိတတ်ကြသည် မဟုတ်ပေ။

ذٰلِكُمُ اللّٰهُ رَبُّكُمْ خَالِقُ كُلِّ شَيْءٍ ۘ لَآ اِلٰهَ اِلَّا هُوَ ۡ فَاَنّٰى تُؤْفَكُوْنَ ٦٢

၆၂။ ထိုအရှင်မြတ်သည်ပင် အသင်တို့အား ဖန်ဆင်း မွေးမြူတော်မူသော အရာခပ်သိမ်းတို့ကို ဖန်ဆင်းတော်မူသော အလ္လာဟ်အရှင်မြတ် ဖြစ်တော်မူ၏။ ထို အရှင်မြတ်မှတစ်ပါး ဆည်းကပ်ကိုးကွယ်ရာ အရှင်ဟူ၍ အလျှင်းမရှိချေ။ သို့ဖြစ်ပေရာ အသင်တို့သည် အဘယ်သို့ ပြန်လှည့်ခြင်းခံကြရသနည်း။

كَذٰلِكَ يُؤْفَكُ الَّذِيْنَ كَانُوْا بِاٰيٰتِ اللّٰهِ يَجْحَدُوْنَ ٦٣

၆၃။ ထိုနည်းအတိုင်းပင် အလ္လာဟ်အရှင်မြတ်၏ သက်သေ လက္ခဏာတော်များကို ငြင်းပယ်လေ့ရှိခဲ့ ကြသောသူတို့သည်လည်း ပြန်လှည့်ခြင်း ခံခဲ့ကြရ၏။

اَللّٰهُ الَّذِيْ جَعَلَ لَكُمُ الْاَرْضَ قَرَارًا وَّالسَّمَاۗءَ بِنَاۗءً وَّصَوَّرَكُمْ فَاَحْسَنَ صُوَرَكُمْ وَرَزَقَكُمْ مِّنَ الطَّيِّبٰتِ ۭ

၆၄။ အလ္လာဟ်အရှင်မြတ်သည်ပင် အကြင်အရှင်မြတ် ဖြစ်တော်မူ၏။ ထိုအရှင်မြတ်သည် အသင်တို့အဖို့ ပထဝီမြေကို မှီတင်း နေထိုင်ရာအဖြစ်လည်းကောင်း၊ မိုးကောင်းကင်ကို အမိုးအဖြစ်လည်းကောင်း၊ ပြုလုပ်၍ ပေးတော်မူခဲ့၏။ ထို့ပြင်ထိုအရှင်မြတ်သည် အသင် တို့၏ ပုံပန်းသဏ္ဌာန်ကိုပြုလုပ်တော်မူခဲ့ရာ အသင်တို့ ၏ ပုံပန်းသဏ္ဌာန်ကို ကောင်းမွန်လှပစွာ ပြုလုပ်

ذٰلِكُمُ اللّٰهُ رَبُّكُمْ ۖ فَتَبٰرَكَ اللّٰهُ رَبُّ الْعٰلَمِيْنَ ﴿٦٤﴾

တော်မူခဲ့၏။ ထိုမှတစ်ပါး အသင်တို့အား စင်ကြယ်ကောင်းမွန်သောအရာများကို ကျွေးမွေးတော်မူခဲ့၏၊ ①

ထိုအရှင်မြတ်သည်ပင် အသင်တို့အား ဖန်ဆင်းမွေးမြူတော်မူသော အလ္လာဟ်အရှင်မြတ် ဖြစ်တော်မူ၏။ စင်စစ်သော်ကား စကြာဝဠာခပ်သိမ်းတို့ကို ဖန်ဆင်းမွေးမြူတော်မူသော အလ္လာဟ်အရှင်မြတ်သည် မင်္ဂလာအပေါင်းတို့နှင့် ပြည့်စုံလှတော်မူ၏။

هُوَ الْحَیُّ لَاۤ اِلٰهَ اِلَّا هُوَ فَادْعُوْهُ مُخْلِصِيْنَ لَهُ الدِّيْنَ ؕ اَلْحَمْدُ لِلّٰهِ رَبِّ الْعٰلَمِيْنَ ﴿٦٥﴾

၆၅။ ထိုအရှင်မြတ်သည်ပင် (အမြဲထာဝရ) ရှင်နေတော်မူသော အရှင်ဖြစ်တော်မူ၏။ ထိုအရှင်မြတ်မှတစ်ပါး ဆည်းကပ်ကိုးကွယ်ရာဟူ၍ အလျှင်းမရှိပြီ။ သို့ဖြစ်ပေရာ အသင်တို့သည် ထိုအရှင်မြတ်အားသာလျှင် ဆည်းကပ်ကိုးကွယ်မှုကို ထိုအရှင်မြတ်အတွက် သန့်သန့်ပြုကြလျက် ဟစ်ခေါ်တသကြလေကုန်၊ ချီးမွမ်းထောပနာအပေါင်းတို့သည် စကြာဝဠာ ခပ်သိမ်းတို့ကို ဖန်ဆင်းမွေးမြူတော်မူသော အလ္လာဟ်အရှင်မြတ်နှင့်သာ ထိုက်သင့်ပေသတည်း။

قُلْ اِنِّیْ نُهِيْتُ اَنْ اَعْبُدَ الَّذِيْنَ تَدْعُوْنَ مِنْ

၆၆။ (အိုး-နဗီတမန်တော်) အသင်သည် (ဤသို့) ပြောကြားပါလေ။ (အချင်းတို့) ဧကန်မလွဲ ငါ၏ထံသို့ ငါ့အားဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်အထံတော်မှ ထင်ရှားစွာသော သက်သေလက္ခဏာတော်များ

① သက်ရှိအပေါင်းတွင် လူသား၏ပုံပန်းသဏ္ဍာန်သည် အလှဆုံးပင်ဖြစ်သည်။ ယနေ့ထက်တိုင် လူသား၏ပုံပန်းသဏ္ဍာန်ထက် အချိုးကျသော၊ ပြေပြစ်သော၊ လှပခန့်ညားသော ပုံပန်းသဏ္ဍာန်ကို မည်သည့် ပန်းချီဆရာမျှလည်း မရေးဆွဲနိုင်ခဲ့ပေ။ နောင်ကို မည်သူမျှ ပြုစွမ်းနိုင်မည်လည်း မဟုတ်ပေ။ ဤအကြောင်းနှင့်စပ်လျဥ်း၍ ကုရ်အာန်(၈၅း၄)၏အဖွင့်တွင် အကျယ်ရေးသားခဲ့ပေပြီ။ ပြန်လည် ရှုပါကုန်။ သက်ရှိအပေါင်းတွင် လူသား၏ပုံပန်းသဏ္ဍာန်သည် အလှဆုံးဖြစ်သကဲ့သို့၊ သက်ရှိအပေါင်းတို့ မှီဝဲစားသုံးနေကြသော အစာအာဟာရများတွင်လည်း လူသားတို့ မှီဝဲစားသုံးသော အစာအာဟာရသည် အကောင်းဆုံးပင်။ ဤသည် အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်ပင်။

دُوْنِ اللّٰهِ لَمَّا جَآءَنِيَ
الْبَيِّنٰتُ مِنْ رَّبِّيْ ۫
وَاُمِرْتُ اَنْ اُسْلِمَ لِرَبِّ
الْعٰلَمِيْنَ ﴿٦٦﴾

ရောက်လာခဲ့ပြီဖြစ်ရာ၊ ငါသည် အလ္လာဟ်အရှင်မြတ်မှ တစ်ပါး အသင်တို့ ဟစ်ခေါ်တသကြကုန်သောသူတို့အား ဆည်းကပ်ကိုးကွယ်ခြင်းမပြုရန် တားမြစ်တော်မူခြင်းကိုခံရ၏။ ထိုမှတစ်ပါး ငါသည် စကြာဝဠာခပ်သိမ်းတို့ကို ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၏အမိန့်တော်ကိုသာလျှင် လိုက်နာရန် အမိန့်ပေးတော်မူခြင်းကိုခံရ၏။

هُوَ الَّذِيْ خَلَقَكُمْ مِّنْ تُرَابٍ
ثُمَّ مِنْ نُّطْفَةٍ ثُمَّ مِنْ عَلَقَةٍ
ثُمَّ يُخْرِجُكُمْ طِفْلًا ثُمَّ لِتَبْلُغُوْٓا
اَشُدَّكُمْ ثُمَّ لِتَكُوْنُوْا شُيُوْخًا ۚ
وَمِنْكُمْ مَّنْ يُّتَوَفّٰى مِنْ قَبْلُ
وَلِتَبْلُغُوْٓا اَجَلًا مُّسَمًّى وَّلَعَلَّكُمْ
تَعْقِلُوْنَ ﴿٦٧﴾

၆၇။ ထိုအရှင်မြတ်သည် အကြင်အရှင်မြတ်ပင်။ ထိုအရှင်မြတ်သည် အသင်တို့အား မြေကြီးဖြင့် ဖန်ဆင်းတော်မူခဲ့၏။ ထို့နောက် ကလလရေကြည်ဖြင့် ထို့နောက် သွေးခဲဖြင့်၊ ထို့နောက် ထိုအရှင်မြတ်သည် အသင်တို့အား ကလေးသူငယ်များအဖြစ် ထွက်စေတော်မူ၏။ ထို့နောက် အသင်တို့သည် မိမိတို့၏ လူလားမြောက်အရွယ်ရောက်သော အချိန်ကာလတိုင်အောင် ရောက်ရှိကြအံ့သောငှာ(အသက်ရှင်စေတော်မူ၏)။ ထို့နောက်တစ်ဖန် အသင်တို့သည် ဇရာအိုများအရွယ်သို့ ရောက်ရှိကြအံ့သောငှာ (အသက်ရှင်စေတော်မူ၏)။

ငင်းပြင် အသင်တို့အနက်(လူလားမြောက်ခြင်း အရွယ်သို့လည်းကောင်း၊ ဇရာအိုအရွယ်သို့လည်းကောင်း၊ မရောက်မီ) ရှေးဦးမဆွ၌ပင် သေဆုံးကြရသူ *များလည်း ရှိကြပေသည်။* [၁] ထို့ပြင် အသင်တို့သည် သတ်မှတ်ပြဋ္ဌာန်းပြီးဖြစ်သော အချိန်ကာလတိုင်အောင် ရောက်ရှိအံ့သောငှာလည်းကောင်း၊ အသင်တို့သည် သိနားလည်ကြအံ့သောငှာလည်းကောင်း၊ (ထိုအရှင်မြတ်သည် အသင်တို့အား ရွေ့ဆိုင်းထားတော်မူ၏။)

---

(၁) အလ္လာဟ်အရှင်မြတ်သည် လူသားအား ပထမမြေမှ၊ ဒုတိယ သုတ်ရည်မှ၊ တတိယ သွေးခဲမှ အဆင့်ဆင့် အံ့ဖွယ်သရဲ ဖန်ဆင်းထားတော်မူသည်။ ဤအာယတ်တော်တွင် လူသားတို့အား မြေမှ ဖန်ဆင်းထားတော် ➢➢

هُوَ الَّذِي يُحْيِي وَيُمِيتُ ۖ فَإِذَا قَضَىٰ أَمْرًا فَإِنَّمَا يَقُولُ لَهُ كُن فَيَكُونُ ﴿٦٨﴾

၆၈။ ထိုအရှင်မြတ်သည်ပင် အသက်ရှင်စေတော်မူ၏။ အသက်သေစေတော်မူ၏။ ထို့နောက် ထိုအရှင်မြတ်သည် အရေးကိစ္စတစ်စုံတစ်ရာကို ပြဋ္ဌာန်းလိုတော်မူသောအခါ ဖြစ်စေဟု မိန့်ကြားတော်မူရုံဖြင့် ယင်းအရေးကိစ္စမှာ (ချက်ချင်း) ဖြစ်ပေါ်လာလေသတည်း။

أَلَمْ تَرَ إِلَى الَّذِينَ يُجَادِلُونَ فِي آيَاتِ اللَّهِ أَنَّىٰ يُصْرَفُونَ ﴿٦٩﴾

၆၉။ (အို-နဗီတမန်တော်) အသင်သည် အလ္လာဟ်အရှင်မြတ်၏အာယတ်တော်များ၌ အငြင်းပွားလျက်ရှိကြသောသူတို့အား မမြင်လေသလော။ ၎င်းတို့သည် အဘယ်သို့ ပြန်လှည့်သွားနေကြသနည်း။

الَّذِينَ كَذَّبُوا بِالْكِتَابِ وَبِمَا أَرْسَلْنَا بِهِ رُسُلَنَا ۖ فَسَوْفَ يَعْلَمُونَ ﴿٧٠﴾

၇၀။ အကြင်သူတို့သည် (ဤကုရ်အာန်)ကျမ်းတော်မြတ်ကိုလည်းကောင်း၊ ငါအရှင်မြတ် မိမိ ရစူလ်တမန်တော်များအား ပေး၍ စေလွှတ်တော်မူသော (အယူဝါဒ အမိန့်ပညတ်စသည်တို့)ကိုလည်းကောင်း၊ မဟုတ်မမှန်ဟူ၍ စွပ်စွဲငြင်းပယ်ခဲ့ကြကုန်၏။ သို့ဖြစ်ပေရာ မကြာမီပင် ၎င်းတို့သည် သိရှိကြရပေမည်။

إِذِ الْأَغْلَالُ فِي أَعْنَاقِهِمْ وَالسَّلَاسِلُ يُسْحَبُونَ ﴿٧١﴾

၇၁။ အကြင်အခါဝယ် ထိုသူတို့၏ လည်ကုပ်များ၌ လည်ကွင်းများနှင့် သံကြိုးများသည် ရှိနေကြပေမည်။ (ထို့ပြင်) ၎င်းတို့သည် ဒရွတ်တိုက်ဆွဲချခြင်းကို ခံကြရပေမည်၊

➤➤ မူသည်ဟူ၍ ပါရှိ၏။ အချို့အာယတ်တော်များတွင် သုတ်ရည်မှ ဖန်ဆင်းထားတော်မူသည်ဟူ၍ပါရှိ၏။ ကွဲပြားသည်မဟုတ်။ အမှန်မှာ သုတ်ရည်ကို ဖြစ်ပွားစေသည့် အစာအာဟာရများသည် မြေမှပင် ပေါက်ပွားကြသည်သာဖြစ်သည်။

လူ၏ဘဝသက်တမ်းကား အံ့မဆုံးတည်း။ လူသည် မြေမှသုတ်ရည်၊ သုတ်ရည်မှ သွေးခဲ၊ သွေးခဲမှ အသားတုံး အဆင့်ဆင့် တိုးတက်ကာ အမိဝမ်းတွင်းမှ အံ့ဖွယ်သရဲ မွေးဖွားလာ၏။ နုနယ်သော ကလေးဖြစ်၏။ နုနယ်ရာမှ ပျိုရွယ်လာ၏။ သန်စွမ်းလာ၏။ အရွယ်ရောက်၏။ လူလားမြောက်၏။ ထို့နောက် အိုမင်းရင့်ရော်၏။ သတ်မှတ်ထားတော်မူသည့် သက်တမ်းအထိ အသက်ရှင်နေ၏။ ထို့နောက် သေဆုံးရပြန်၏။ သတ္တဝါအပေါင်းတွင် လူသည်အလှဆုံး၊ အံ့ဖွယ်ရာ အကောင်းဆုံးနှင့် အမြတ်ဆုံးဖြစ်သည်။ လူသည် မိမိ၏ဘဝသက်တမ်းကို စဉ်းစားဆင်ခြင်ပါက အလ္လာဟ်အရှင်မြတ်အား တွေ့မြင်လာမည်ပင်။ ကျေးဇူးအထူးတင်မည်ပင်။

فِي الْحَمِيمِ ثُمَّ فِي
النَّارِ يُسْجَرُونَ ﴿٧٢﴾

၇၂။ ကျိုက်ကျိုက်ဆူလျက်ရှိသော ရေနွေးပူ၌။ ထို့နောက် ၎င်းတို့သည် ငရဲမီးထဲသို့ တွန်းထိုးခြင်းကို ခံကြရပေမည်။

ثُمَّ قِيلَ لَهُمْ أَيْنَ مَا كُنتُمْ
تُشْرِكُونَ ﴿٧٣﴾

၇၃။ ထို့နောက် ၎င်းတို့သည် (ဤသို့) ပြောဆို (မေးမြန်း)ခြင်းကို ခံကြရပေမည်။ အသင်တို့ တွဲဖက် နှိုင်းယှဉ်(ကိုးကွယ်)လေ့ရှိကြသော အရာများသည် အဘယ်မှာနည်း။

مِن دُونِ اللَّهِ قَالُوا ضَلُّوا
عَنَّا بَل لَّمْ نَكُن نَّدْعُو
مِن قَبْلُ شَيْئًا كَذَٰلِكَ
يُضِلُّ اللَّهُ الْكَافِرِينَ ﴿٧٤﴾

၇၄။ အလ္လာဟ်အရှင်မြတ်နှင့်အတူ ၎င်းတို့က လျှောက်ထားကြပေမည်။ ၎င်းတို့မှာ ကျွန်တော်မျိုးတို့ထံမှ ပျောက်သွားကြပါပြီ။ ထိုသို့အလျှင်းမဟုတ်၊ စင်စစ်မှာကား ကျွန်တော်မျိုးသည် ယခင်က မည်သည့် တစ်စုံတစ်ရာမျှပင် *ဟစ်ခေါ်တသ (ဆည်းကပ်ကိုးကွယ်)ခြင်း မပြုခဲ့ကြပါ။* [၁] အလ္လာဟ်အရှင်မြတ်သည် ထိုနည်းအတိုင်းပင် "ကာဖိရ်" သွေဖည်ငြင်းပယ်ကြသော သူတို့အား လမ်းမှား၌ပင် နေမြဲနေစေတော်မူ၏။

ذَٰلِكُم بِمَا كُنتُمْ تَفْرَحُونَ فِي
الْأَرْضِ بِغَيْرِ الْحَقِّ وَبِمَا
كُنتُمْ تَمْرَحُونَ ﴿٧٥﴾

၇၅။ ထို(ပြစ်ဒဏ်ကို ခံစားကြရခြင်း)မှာ အသင်တို့သည် ကမ္ဘာလောက၌ မတရားသဖြင့် ရွှင်မြူးလျက်ရှိခဲ့ကြသောကြောင့်လည်းကောင်း၊ ဝင့်ကြွားလျက်ရှိခဲ့ကြသောကြောင့်လည်းကောင်း၊ (ခံစားကြရခြင်း) ဖြစ်၏။

---

(၁) ကိယာမတ်နေ့တွင် ကာဖိရ်၊ မုရှ်ရစ်က်များသည် မိမိတို့ လူ့လောက၌ ရှိခဲ့ကြစဉ် အလ္လာဟ်အရှင်မြတ်မှတစ်ပါး မိမိတို့ ယှဉ်တွဲကိုးကွယ်ခဲ့ကြသော ကိုးကွယ်ရာများသည် မည်သို့မျှအသုံးမဝင်ကြောင်း၊ အချည်းနှီးမျှသာဖြစ်ကြောင်း၊ မိမိတို့သည် အချည်းနှီးသော ကိုးကွယ်မှုတွင် မိမိတို့၏ အသက်များကို ဖြုန်းတီးခဲ့ကြောင်းကို အထင်အရှား သိရှိသွားကြသောအခါ ဤအာယတ်တော်တွင် လာရှိသည့်အတိုင်း "ကျွန်တော်မျိုးတို့သည် ယခင်က အဘယ် တစ်စုံတစ်ရာကိုမျှ ကိုးကွယ်ခဲ့ကြသည်ပင် မဟုတ်ပါ" ဟု လျှောက်ထား၍ မိမိတို့၏ကိုးကွယ်မှု မှားယွင်းကြောင်းကို ဝန်ခံကြပေမည်။ ကြည့်-ကုရ်တုဗီ။

أُدْخُلُوٓا أَبْوَابَ جَهَنَّمَ
خَٰلِدِينَ فِيهَا ۖ فَبِئْسَ
مَثْوَى ٱلْمُتَكَبِّرِينَ ﴿٧٦﴾

၇၆။ (ယခုမူကား) အသင်တို့သည် “ဂျဟန္နမ်” ငရဲဘုံ၏တံခါးပေါက်များသို့ ယင်းဂျဟန္နမ် ငရဲဘုံ၌ အမြဲထာဝရ နေထိုင်ကြသူတို့အဖြစ် ဝင်ရောက်ကြကုန်လော့။ စင်စစ် ဘဝင်မြင့် မာန်မာန ထောင်လွှားကြကုန်သောသူတို့၏ နေထိုင်ရာဌာနမှာမူကား လွန်စွာ ဆိုးရွားလှပေသတည်း။

فَٱصْبِرْ إِنَّ وَعْدَ ٱللَّهِ حَقٌّ ۚ
فَإِمَّا نُرِيَنَّكَ بَعْضَ ٱلَّذِى
نَعِدُهُمْ أَوْ نَتَوَفَّيَنَّكَ فَإِلَيْنَا
يُرْجَعُونَ ﴿٧٧﴾

၇၇။ သို့ဖြစ်ပေရာ (အို-နဗီတမန်တော်) အသင်သည် သည်းခံပါလေ။ ကေန်မလွဲ အလ္လာဟ်အရှင်မြတ်၏ကတိပြုတော်မူချက်သည် မှန်ကန်သော ကတိပြုချက်ပင်ဖြစ်၏။ ထို့နောက် အကယ်၍ ငါအရှင်မြတ်သည် ၎င်းတို့အား ငါအရှင်မြတ် ချိန်းချက်တော်မူသည်များအနက် အချို့ကို အသင့်အား ပြသတော်မူသည်ဖြစ်စေ၊ အသင့်အား သေဆုံးစေတော်မူသည်ဖြစ်စေ၊ မည်သို့ပင်ဖြစ်စေ၊ ၎င်းတို့မှာမူကား ငါအရှင်မြတ်အထံတော်သို့ ပြန်လာကြရမည်သာတည်း။

وَلَقَدْ أَرْسَلْنَا رُسُلًا مِّن قَبْلِكَ
مِنْهُم مَّن قَصَصْنَا عَلَيْكَ
وَمِنْهُم مَّن لَّمْ نَقْصُصْ
عَلَيْكَ ۗ وَمَا كَانَ لِرَسُولٍ
أَن يَأْتِىَ بِـَٔايَةٍ إِلَّا بِإِذْنِ ٱللَّهِ ۚ
فَإِذَا جَآءَ أَمْرُ ٱللَّهِ قُضِىَ بِٱلْحَقِّ

၇၈။ ထိုမှတစ်ပါး ကေန်မလွဲ ငါအရှင်မြတ်သည် အသင့်အလျင် (မြောက်မြားစွာသော) ရစူလ်တမန်တော်များအားစေလွှတ်တော်မူခဲ့၏။ ၎င်းတို့အနက် အချို့သော ရစူလ်တမန်တော်များ၏ အတ္ထုပ္ပတ္တိကို ငါအရှင်မြတ်သည် အသင့်အားပြောပြတော်မူခဲ့၍အချို့၏အတ္ထုပ္ပတ္တိကို ငါအရှင်မြတ်သည် အသင့်အား ပြောပြတော်မူခဲ့သည်မရှိချေ။ စင်စစ်သော်ကား မည်သည့် ရစူလ်တမန်တော် တစ်ပါးအဖို့မျှပင် အလ္လာဟ်အရှင်မြတ်၏အမိန့်တော်မရှိဘဲ *တန်ခိုးပြာဋိဟာ တစ်စုံတစ်ရာမျှ ပြနိုင်စွမ်းမရှိပြီ။* [1]

---

(၁) အလ္လာဟ်အရှင်မြတ်သည် လူသားတို့အား တရားဓမ္မ ဟောညွှန်ပြရန်အတွက် မြောက်မြားစွာသော တမန်တော်များကို စေလွှတ်တော်မူခဲ့သည်။ ယင်းတမန်တော်များအနက် အချို့တို့၏အကြောင်းကို ➢➢

وَخَسِرَ هُنَالِكَ الْمُبْطِلُونَ ﴿٧٨﴾

ထို့နောက် အလ္လာဟ်အရှင်မြတ်၏အမိန့်တော် ရောက်ရှိ၍လာသောအခါ၌မူကား တိကျမှန်ကန်စွာ စီရင်ဆုံးဖြတ်ပြီးသည့်ပြင် အမှားကို လိုက်စားသော သူတို့သည် ထိုနေရာ၌ပင် ပျက်စီး ဆုံးရှုံးခဲ့ကြအံ့ သတည်း။

اَللّٰهُ الَّذِيْ جَعَلَ لَكُمُ الْاَنْعَامَ لِتَرْكَبُوْا مِنْهَا وَمِنْهَا تَاْكُلُوْنَ ﴿٧٩﴾

၇၉။ အလ္လာဟ်အရှင်မြတ်သည်ပင် အသင်တို့အတွက် ခြေလေးချောင်းတိရစ္ဆာန်(များဖြစ်သော ကုလားအုပ်၊ နွား၊သိုး၊ ဆိတ်)တို့ကို ဖန်ဆင်းတော်မူခဲ့၏။ အသင် တို့သည် ၎င်းတို့အနက် အချို့ကို စီးနင်းကြကုန်၏။ ထို့ပြင် အသင်တို့သည် ၎င်းတို့အနက် အချို့ကို စားသုံးကြကုန်၏။

وَلَكُمْ فِيْهَا مَنَافِعُ وَلِتَبْلُغُوْا عَلَيْهَا حَاجَةً فِيْ صُدُوْرِكُمْ وَعَلَيْهَا وَعَلَى الْفُلْكِ تُحْمَلُوْنَ ﴿٨٠﴾

၈၀။ ထို့ပြင် အသင်တို့အဖို့ ယင်းတိရစ္ဆာန်များ၌ များစွာသော အကျိုးကျေးဇူးများသည်လည်း ရှိကုန်၏။ ထိုမှတစ်ပါး အသင်တို့သည် ယင်းတိရစ္ဆာန်ပေါ်၌ (စီးနင်းလျက်) မိမိတို့၏ စိတ်တွင်းဝယ် အလိုရှိရာသို့ ရောက်ရှိနိုင်ကြအံ့သောငှာ (ဖန်ဆင်းတော်မူခဲ့၏။) ထိုမှ တစ်ပါး အသင်တို့သည် ယင်းတိရစ္ဆာန်များပေါ်၌ လည်းကောင်း၊ သင်္ဘောများပေါ်၌လည်းကောင်း၊ တင် ဆောင်ခြင်းကို ခံကြရကုန်၏။

---

➤➤ ပြောပြထားတော်မူသည်။ အချို့တို့၏အကြောင်းကို ပြောပြထားတော်မူသည်မရှိ။ ကျွန်ုပ်တို့သည် ပွင့်လေသမျှသော အလ္လာဟ်အရှင်မြတ်၏တမန်တော်အပေါင်းတို့အား ကျွန်ုပ်တို့သိသည်ဖြစ်စေ၊ မသိသည်ဖြစ်စေ ခွဲခြားမှုအလျှင်းမထားဘဲ ယုံကြည်ကြရမည်သာ ဖြစ်သည်။ ကြည့်-ကုရ်အာန် (၂:၁၃၆)။

စကြာဝဠာအဝန်းတွင် တမန်တော်များသည် အမြင့်မြတ်ဆုံးပုဂ္ဂိုလ်များ ဖြစ်ခဲ့ကြပေသည်။ ယင်းတမန်တော်များအနက် မည်သည့်တမန်တော်မျှပင် အလ္လာဟ်အရှင်မြတ်၏ ခွင့်ပြုချက်မရှိဘဲ၊ "မုအ်ဂျိဇဟ်" တန်ခိုးပြာဋိဟာ သက်သေလက္ခဏာ တစ်စုံတစ်ရာကိုမျှပင် မပြနိုင်ခဲ့ကြပေ။ ဆိုလိုသည်ကား သာမန် သတ္တဝါများကို မဆိုထားနှင့်။ တမန်တော်များသည်ပင်လျှင် အလ္လာဟ်အရှင်မြတ်အား မှီခိုအားထားနေရကြရသည်သာတည်း။

وَيُرِيكُمْ آيَاتِهِ فَأَيَّ آيَاتِ
اللَّهِ تُنكِرُونَ ﴿٨١﴾

၈၁။ စင်စစ်သော်ကား ထိုအရှင်မြတ်သည် အသင်တို့အား မိမိသက်သေ လက္ခဏာတော်များကို ပြသတော်မူ၏။ သို့ဖြစ်ပေရာ အသင်တို့သည် အလ္လာဟ်အရှင်မြတ်၏ မည်သည့် သက်သေလက္ခဏာတော်များကို ငြင်းပယ်ကြအံ့နည်း။

أَفَلَمْ يَسِيرُوا فِي الْأَرْضِ
فَيَنظُرُوا كَيْفَ كَانَ عَاقِبَةُ
الَّذِينَ مِن قَبْلِهِمْ ۚ كَانُوا
أَكْثَرَ مِنْهُمْ وَأَشَدَّ قُوَّةً
وَآثَارًا فِي الْأَرْضِ فَمَا
أَغْنَىٰ عَنْهُم مَّا كَانُوا
يَكْسِبُونَ ﴿٨٢﴾

၈၂။ သို့ဖြစ်ပေရာ (၎င်းတို့သည် ကမ္ဘာမြေဝယ် လှည့်လည်သွားလာခြင်း မပြုခဲ့ကြလေသလော။ သို့ပြုခဲ့ကြလျှင် ၎င်းတို့သည် မိမိတို့အလျင်ရှိခဲ့ဘူးကြသောသူတို့၏ နောက်ဆုံးအကျိုးသည် မည်သို့မည်ပုံရှိခဲ့သည်ကို တွေ့မြင်ကြပေမည်။

ထိုရှေးသူဟောင်းတို့သည် ထိုသူတို့ထက်ပင် လူဦးရေများခဲ့ကြသည့်ပြင် သူရသတ္တိ၊ ခွန်အားဗလအားဖြင့်လည်းကောင်း၊ ပထဝီမြေဝယ်ချန်ရစ်ခဲ့သော ခြေရာလက်ရာများအားဖြင့် လည်းကောင်း၊ ပိုမိုထူးကဲသူများ ဖြစ်ခဲ့ကြကုန်၏။ သို့တစေလည်း ၎င်းတို့အဖို့ ၎င်းတို့ ဆည်းပူးခဲ့ကြသည်တို့သည် အသုံးမဝင် အကျိုးပေးသည် မဟုတ်ပေ။

فَلَمَّا جَاءَتْهُمْ رُسُلُهُم
بِالْبَيِّنَاتِ فَرِحُوا بِمَا عِندَهُم
مِّنَ الْعِلْمِ وَحَاقَ بِهِم مَّا كَانُوا
بِهِ يَسْتَهْزِئُونَ ﴿٨٣﴾

၈၃။ စင်စစ်သော်ကား ၎င်းတို့၏ရစူလ်တမန်တော်များ ၎င်းတို့ထံ ထင်ရှားစွာသော သက်သေလက္ခဏာတော်များကို ယူဆောင်၍လာခဲ့ကြသောအခါ ၎င်းတို့သည် မိမိတို့ထံရှိလေသော (လောကီ)ပညာနှင့် စပ်လျဉ်း၍ မြူးတူးရွှင်ပျော်၊ မော်ကြွားခဲ့ကြကုန်၏။ သို့ရာတွင် ၎င်းတို့သည် ပျက်ချော် ပြောင်လှောင်လျက်ရှိခဲ့ကြသော (ပြစ်ဒဏ်)မှာ ၎င်းတို့အား ဝန်းဝိုင်းခဲ့လေ၏။

فَلَمَّا رَأَوْا بَأْسَنَا قَالُوٓا ءَامَنَّا
بِٱللَّهِ وَحْدَهُۥ وَكَفَرْنَا بِمَا
كُنَّا بِهِۦ مُشْرِكِينَ ﴿٨٤﴾

၈၄။ ထို့နောက် ၎င်းတို့သည် ငါအရှင်မြတ်၏ ပြစ်ဒဏ်ကို မြင်ခဲ့ကြသောအခါ "ကျွန်တော်မျိုးတို့သည် အလ္လာဟ်အရှင်မြတ် တစ်ဆူတည်းကိုသာ သက်ဝင် ယုံကြည်ပါပြီ၊ ၎င်းပြင် ကျွန်တော်မျိုးတို့သည် မိမိတို့ ထိုအရှင်မြတ်နှင့် တွဲဖက်နိုင်းယှဉ်ကိုးကွယ်လျက် ရှိခဲ့ကြသည်တို့ကို ငြင်းပယ်ကြပါပြီ" ဟု ပြောဆိုခဲ့ကြကုန်၏။

فَلَمْ يَكُ يَنفَعُهُمْ إِيمَٰنُهُمْ
لَمَّا رَأَوْا بَأْسَنَا ۖ سُنَّتَ ٱللَّهِ
ٱلَّتِى قَدْ خَلَتْ فِى عِبَادِهِۦ ۖ
وَخَسِرَ هُنَالِكَ ٱلْكَٰفِرُونَ ﴿٨٥﴾

၈၅။ သို့တစေလည်း ၎င်းတို့သည် ငါအရှင်မြတ်၏ ပြစ်ဒဏ်ကို မြင်တွေ့ခဲ့ကြပြီးဖြစ်ရာ ၎င်းတို့၏ "အီမာန်" သက်ဝင်ယုံကြည်မှုသည် ၎င်းတို့အား အကျိုးပေးခဲ့သည်မဟုတ်ပေ။

(ဤသည်) အလ္လာဟ်အရှင်မြတ်၏ အကြင်စည်းကမ်းအတိုင်းဖြစ်၏။ ထိုစည်းကမ်းသည် ထိုအရှင်မြတ်၏ ကျွန်တို့နှင့်ပတ်သက်၍ လွန်လေပြီးဖြစ်၏။ ထိုမှတစ်ပါး "ကာဖိရ်" သွေဖည်ငြင်းပယ်သောသူတို့သည် ထိုနေရာ၌ပင် ပျက်စီးဆုံးရှုံးခဲ့ကြကုန်သတည်း။

## ဟာမီမ်-စဂ်ျဒဟ်ကဏ္ဍ

سُوْرَةُ حٰمٓ السَّجْدَةِ

ဤကဏ္ဍသည် "ဟာမီမ်စဂ်ျဒဟ်" မည်၏။ မက္ကာမြို့တော်၌ ကျရောက်ခဲ့၏။
ဤကဏ္ဍတွင် (အာယတ်)တော် (၅၄)ပါး၊ (ရကူအ်)အပိုဒ်(၆)ပိုဒ် အသီးသီးပါရှိ၏။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ

အနန္တကရုဏာတော်ရှင် ဖြစ်တော်မူသော၊ မပြတ်မစဲ သနားကြင်နာ ညှာတာတော်မူသော အလ္လာဟ်အရှင်မြတ်၏ နာမံတော်ဖြင့် အစပြုပါ၏။

حٰمٓ ①

၁။ *ဟာ၊မီမ်*။ [၁]

تَنْزِيْلٌ مِّنَ الرَّحْمٰنِ الرَّحِيْمِ ②

၂။ (ဤအာယတ်တော်သည်) အလွန်တရာ သနားကြင်နာ ညှာတာတော်မူသော အနန္တ ကရုဏာတော်အရှင်၏ အထံတော်မှ ချပေးတော်မူခြင်းဖြစ်၏။

كِتٰبٌ فُصِّلَتْ اٰيٰتُهٗ قُرْاٰنًا عَرَبِيًّا لِّقَوْمٍ يَّعْلَمُوْنَ ③

၃။ (ဤသည်) အကြင်ကျမ်းဂန်ပင်ဖြစ်၏။ ယင်းကျမ်းဂန်၏ အာယတ်တော်များသည် သိနားလည်ကြသော အမျိုးသားတို့အဖို့ ရှင်းလင်းစွာ ဖော်ပြထားတော်မူသော (ဝါ) အရဗ်ဘာသာစကားဖြင့်ထုတ်ပြန်သော) ကုရ်အာန်ကျမ်းတော်မြတ်ပင် ဖြစ်သည်။ [၂]

---

(၁) ကုရ်အာန်ကျမ်းမြတ်၏ ကဏ္ဍများ၏အစတွင်ပါရှိသော သင်္ကေတ အက္ခရာစုများ၏အနက်ကို အလ္လာဟ်အရှင်မြတ်သာလျှင် အသိဆုံးဖြစ်တော်မူသည်။ ကြည့်-ထာနဝီ။

(၂) ကုရ်အာန်၊

ကုရ်အာန်သည် အလွန်သနားကြင်နာ ညှာတာတော်မူသော မဟာကရုဏာတော်ရှင်၏ ကျမ်းမြတ်ဖြစ်သည်။ ဤကျမ်းမြတ်သည် အထူးအထူးသော ဂုဏ်ထူး ဝိသေသများနှင့် ပြည့်စုံလှသည်။ ဤကျမ်းမြတ်လာ ဒေသနာတော်များသည် အထူးရှင်းလင်း ပြတ်သားလှသည်။ ဤကျမ်းမြတ်တွင် သုံးနှုန်းထားတော်မူသည့် အသုံးအနှုန်းများမှာ စံမတူအောင် စာပေမြောက်လှသည်။ ဤကျမ်းမြတ်၏ ဘာသာစကားမှာ အရဗ်ဘာသာစကားဖြစ်သည်။ ဤကျမ်းမြတ်ကို အရဗ်ဘာသာစကားဖြင့် ထုတ်ပြန်ချမှတ်ထားတော်မူခြင်းမှာ ဤကျမ်းမြတ်ကို ဦးစွာပထမ ကြားနာခဲ့ကြရသော ပုဂ္ဂိုလ်များမှာအရဗ်များ ဖြစ်ခဲ့ကြသည်။ ထို့ပြင်တစ်ဝ အရဗ်ဘာသာ စကားသည် စာပေဂုဏ်မြောက်လှသည်။ အရဗ်စာပေသည် စတင်ထွန်းကားလာခဲ့သည့်အချိန်မှ ယနေ့ထက်တိုင် မေးမှိန်သွားခဲ့သည်မရှိ။ တိုး၍တိုး၍သာ ထွန်းကားလာခဲ့ပေသည်။ ယနေ့ကမ္ဘာတွင် အရဗ်ဘာသာစကားကို ➤➤

بَشِيرًا وَنَذِيرًا ۚ فَأَعْرَضَ
أَكْثَرُهُمْ فَهُمْ لَا يَسْمَعُونَ ④

၄။ သတင်းကောင်း ပြောကြားသည်၊ သတိပေးနှိုးဆော်သည်၊ သို့ရာတွင် ၎င်းတို့အနက် အများဆုံးသောသူတို့မှာ မျက်နှာလွှဲခဲ့ကြကုန်၏။ သို့ဖြစ်ပေရာ ၎င်းတို့သည် နားထောင်ကြသည်ပင် မဟုတ်ပေ။

وَقَالُوا قُلُوبُنَا فِي أَكِنَّةٍ مِمَّا
تَدْعُونَا إِلَيْهِ وَفِي آذَانِنَا
وَقْرٌ وَمِنْ بَيْنِنَا وَبَيْنِكَ
حِجَابٌ فَاعْمَلْ إِنَّنَا عَامِلُونَ ⑤

၅။ ထိုမှတစ်ပါး ၎င်းတို့က ပြောဆိုခဲ့ကြကုန်၏။ ကျွန်ုပ်တို့၏ စိတ်နှလုံးများမှာ အသင်ဖိတ်ခေါ်လျက်ရှိသောတရားကို (နားလည်ခြင်း)မှ ဖုံးအုပ်လျက် ရှိကြပေသည်။ ထို့ပြင် ကျွန်ုပ်တို့၏ နားများသည်လည်း ပင်းလျက် ရှိကြသည်။ ထိုမှတစ်ပါး ကျွန်ုပ်တို့နှင့် အသင်၏အကြားဝယ် အကွယ်အကာတစ်ခု ရှိနေပေသည်။ သို့ဖြစ်ပေရာ အသင်သည် (မိမိအလုပ်ကို) လုပ်ကိုင်ပါလေ။ ဧကန်စင်စစ် ကျွန်ုပ်တို့သည် (မိမိတို့အလုပ်ကို) လုပ်ကိုင်နေသူများပင် ဖြစ်ကြကုန်သတည်း။

قُلْ إِنَّمَا أَنَا بَشَرٌ مِثْلُكُمْ يُوحَىٰ
إِلَيَّ أَنَّمَا إِلَٰهُكُمْ إِلَٰهٌ وَاحِدٌ
فَاسْتَقِيمُوا إِلَيْهِ وَاسْتَغْفِرُوهُ

၆။ (အို-နဗီတမန်တော်) အသင်သည် (၎င်းတို့အား ဤသို့)ပြောကြားပါလေ။ (အချင်းတို့) ငါသည် အသင်တို့ကဲ့သို့ပင် လူသားတစ်ဦးမျှသာလျှင် ဖြစ်ပေသည်။ ငါ၏ထူခြားချက်မှာ (အသင်တို့၏) ကိုးကွယ်ရာ အရှင်မြတ်သည် တစ်ဆူတည်းသော ကိုးကွယ်ရာ အရှင်မြတ်သာလျှင် ဖြစ်တော်မူကြောင်း ငါ့ထံသို့

---

➤➤ ခေါ်ဝေါ်သုံးနှုန်းနေသော တိုင်းပြည်များသည် အမြောက်အမြားရှိပေသည်။ ကုရ်အာန်ကျမ်းမြတ်သည် ကမ္ဘာတစ်သက် တည်ရှိနေမည်ဖြစ်ရာ အရဗ်ဘာသာစာပေသည်လည်း ကမ္ဘာတစ်သက် တည်ရှိနေမည်သာ ဖြစ်သည်။

ကုရ်အာန်ကျမ်းမြတ်သည် ထိုထိုဤဤ ဂုဏ်ထူးဝိသေသများနှင့် ပြည့်စုံပါသော်လည်း အသိဉာဏ် အမြော်အမြင်ရှိသော၊ ဆင်ခြင်တုံတရားရှိသော ပုဂ္ဂိုလ်များသာလျှင် ဤကျမ်းမြတ်ဖြင့် အကျိုးခံစားကြပေသည်။ အသိဉာဏ် အမြော်အမြင်မရှိသော လူ့ဗာလတို့သည် သတိမမူ၊ဂရုမပြု ဆိုသကဲ့သို့ ကုရ်အာန်ကျမ်းမြတ်ဖြင့် မည်သို့မျှ အကျိုးမခံစားကြပေ။ ဤကား ကုရ်အာန်၏ အပြစ်မဟုတ်။ ကုရ်အာန်ကျမ်းမြတ်ကို အသုံးမချသော သူများ၏ အပြစ်သာတည်း။ ရောဂါပျောက်ကြောင်း ဆေးကောင်းရှိလျက် မစားရက် ဆေးထွက်မဟုတ်ချေ။ မစင်လူးလျှင် အေးကြည်လင်သည့် ရေစင်ရှိလျက်မဆေးရက် ကန်ထွက်မဟုတ်ချေ။

وَوَيْلٌ لِّلْمُشْرِكِيْنَ ﴿٦﴾

"ဝဟ်ယ်" အမိန့်တော်ကျရောက်လာ (ခြင်းသည်သာ လျှင် ငါ၏ထူးခြားချက်ဖြစ်၏။] သို့ဖြစ်ပေရာ အသင် တို့သည် ထိုအရှင်မြတ်ဘက်သို့သာလျှင် ဖြောင့်မတ်စွာ လှည့်ကြလေကုန်။ ထိုမှတစ်ပါး အသင်တို့သည် ထို အရှင်မြတ်အထံတော်၌သာလျှင် လွတ်ငြိမ်းချမ်းသာခွင့် ကို ပန်ကြားအသနားခံကြလေကုန်။ စင်စစ်မှာမူကား မှုရှိရစ်က် (တစ်စုံတစ်ရာကို ထိုအရှင်မြတ်နှင့်) တွဲဖက် နှိုင်းယှဉ် (ကိုးကွယ်)သူတို့၌ (ကြီးစွာသော) ပျက်စီးခြင်း သည်ရှိပေသည်။ [၁]

الَّذِيْنَ لَا يُؤْتُوْنَ الزَّكٰوةَ وَهُمْ بِالْاٰخِرَةِ هُمْ كٰفِرُوْنَ ﴿٧﴾

၇။ အကြင်သူတို့သည် "ဇကာတ်" ပေးဆောင်ကြ သည် မဟုတ်ပေ။ ထိုမှတစ်ပါး ၎င်းတို့သည်ပင်လျှင် "အာခိရတ်" တမလွန်ဘဝကို ငြင်းပယ်သူများ ဖြစ်ကြ ကုန်၏။

اِنَّ الَّذِيْنَ اٰمَنُوْا وَعَمِلُوا الصّٰلِحٰتِ لَهُمْ اَجْرٌ غَيْرُ مَمْنُوْنٍ ﴿٨﴾ ع

၈။ ကေန်မလွဲ "အီမာန်" သက်ဝင်ယုံကြည်ခဲ့ကြ သည့်ပြင် ကောင်းမြတ်သော အကျင့်သီလများကို ကျင့်မှုဆောက်တည်ခဲ့ကြကုန်သော သူတို့အဖို့ကား ကုန်ခန်းခြင်းမရှိသော အကျိုးသည် ရှိပေသတည်း။

(၁) ဤအာယတ်တော်၏ အလိုသဘောမှာ တမန်တော်မြတ်က ကျွန်ုပ်သည် ကိုးကွယ်ရာအရှင်လည်းမဟုတ်၊ အသင်တို့၏ စိတ်နှလုံးများကို အမှားဘက်မှ အမှန်ဘက်သို့ အတင်းအဓမ္မ လှည့်ပစ်နိုင်သည်လည်းမဟုတ်၊ ကျွန်ုပ်သည် အသင်တို့တောင်းဆိုနေကြသော ကောင်းကင်တမန်လည်းမဟုတ်၊အမှန်မှာ ကျွန်ုပ်သည် အသင်တို့ကဲ့သို့ လူသားတစ်ဦးသာဖြစ်သည်။ သို့ရာတွင် ထူးခြားချက်တစ်ရပ်မှာ–အလ္လာဟ်အရှင်မြတ်ထံတော်မှ ကျွန်ုပ်ထံသို့ "ဝဟ်ယ်" အမိန့်တော်များ ကျရောက်လာပေသည်။ ထိုအရှင်မြတ်သည် ကျွန်ုပ်အား မိမိ၏တမန်တော်အဖြစ် မြှောက်စားထားတော်မူသည်။ သို့ဖြစ်ရာ အသင်တို့သည် အဘယ်မျှပင် သွေဖည်ကျောခိုင်းကြလင့်ကစား အဘယ်မျှစိတ်နာကြည်းစေသည့် စကားများကို ပြောဆိုကြလင့်ကစား ကျွန်ုပ်သည် အလ္လာဟ်အရှင်မြတ်၏ "ဝဟ်ယ်" အမိန့်တော်များကို အသင်တို့ထံ အရောက်ပို့ဆောင်မည်သာဖြစ်သည်။ ကျွန်ုပ်ထံ "ဝဟ်ယ်" အမိန့်တော် ကျရောက်လာခဲ့သည်မှာ အသင်တို့အားလုံး ဆည်းကပ်ကိုးကွယ်ကြရမည့် အရှင်မှာ တစ်ပါးတည်းသာ ဖြစ်တော်မူသည်။ ထိုအရှင်မြတ်မှတစ်ပါး အခြားကိုးကွယ်ရာဟူ၍ အလျှင်းမရှိပြီ။ သို့ဖြစ်ရာ အသင်တို့သည် မိမိတို့၏ အရေးကိစ္စအဝဝတွင် ထိုအရှင်မြတ်ဘက်တော်သို့သာ ဖြောင့်မတ်တည်ကြည်စွာ ရှေးရှုတူရူမျက်နှာမူကြကုန်၊ ထိုအရှင်မြတ်၏လမ်းတော်မှ စိုးစဉ်းမျှပင် မတိမ်းစောင်းကြကုန်လင့်။ တစ်ချိန်ကတိမ်းစောင်းမိခဲ့ကြလျှင်လည်း ထိုအရှင်မြတ်ထံတော်၌ပင် လွတ်ငြိမ်းချမ်းသာခွင့် ပန်ကြားကြကုန်ဟူ၍ ပြောကြားတော်မူခဲ့လေသည်။

قُلْ اَىِٕنَّكُمْ لَتَكْفُرُوْنَ
بِالَّذِىْ خَلَقَ الْاَرْضَ
فِىْ يَوْمَيْنِ وَتَجْعَلُوْنَ لَهٗۤ
اَنْدَادًا ؕ ذٰلِكَ رَبُّ الْعٰلَمِيْنَ ۚ﴿۹﴾

၉။ (အို-နဗီတမန်တော်၊) အသင်သည် (၎င်းတို့အား) ပြောကြားပါလေ၊ (အချင်းတို့၊) အသင်တို့သည် ကမ္ဘာမြေကို နှစ်ရက်နှင့် ဖန်ဆင်းတော်မူခဲ့သောအရှင်မြတ်အား သွေဖည်ငြင်းပယ်ကြလေသလော။ ထိုမှတစ်ပါး အသင်တို့သည် အရှင်မြတ်နှင့် ဂုဏ်ရည်တူများကို ပြုလုပ်ထားကြလေသလော။ ထိုအရှင်မြတ်သည်ပင် စကြာဝဠာခပ်သိမ်းတို့ကို ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ် ဖြစ်တော်မူ၏။

وَجَعَلَ فِيْهَا رَوَاسِىَ مِنْ فَوْقِهَا
وَبٰرَكَ فِيْهَا وَقَدَّرَ فِيْهَاۤ
اَقْوَاتَهَا فِىْۤ اَرْبَعَةِ اَيَّامٍ ؕ
سَوَآءً لِّلسَّآىِٕلِيْنَ ﴿۱۰﴾

၁၀။ ၎င်းပြင် ထိုအရှင်မြတ်သည် ယင်းပထဝီမြေဝယ် တည်ငြိမ်ကြံ့ခိုင်သော တောင်များကို ယင်းပထဝီမြေ၏ ထက်ဝယ် ပြုလုပ်ထားတော်မူခဲ့၏။ ထို့ပြင် ယင်းပထဝီမြေ၌ အကျိုးကျေးဇူးများကို ပွားများစေတော်မူခဲ့၏။ ထိုမှတစ်ပါး ယင်းပထဝီမြေ၌ပင် ၎င်းမှထွက်သော အစာအဟာရများကို တိုင်းတာချင့်ချိန် သတ်မှတ်ထားတော်မူခဲ့၏။ (ယင်းအမှုကိစ္စ အလုံးစုံတို့မှာ) လေးရက်နှင့်(ပြီးမြောက်ခဲ့၏)။ (ဤသည်) မေးမြန်းသူတို့အဖို့ ညီမျှ(သော အဖြေ)ဖြစ်၏။

ثُمَّ اسْتَوٰۤى اِلَى السَّمَآءِ وَهِىَ
دُخَانٌ فَقَالَ لَهَا وَلِلْاَرْضِ
ائْتِيَا طَوْعًا اَوْ كَرْهًا ؕ قَالَتَاۤ
اَتَيْنَا طَآىِٕعِيْنَ ﴿۱۱﴾

၁၁။ ထို့နောက် ထိုအရှင်မြတ်သည် မိုးကောင်းကင်ဘက်သို့ လှည့်တော်မူခဲ့၏။ ထိုအချိန်တွင် ယင်းမိုးကောင်းကင်သည် မီးခိုးအခိုးအငွေ့သာ ဖြစ်နေခဲ့၏။ ထိုအခါ အရှင်မြတ်သည် ယင်းမိုးကောင်းကင်ကိုလည်းကောင်း၊ ပထဝီမြေကိုလည်းကောင်း၊ အသင်တို့ ကျေနပ်စွာဖြစ်စေ၊ မကျေနပ်ပဲဖြစ်စေ၊ လာကြလေကုန်ဟု မိန့်ကြားတော်မူခဲ့ရာ ယင်းမိုးကောင်းကင်နှင့် ပထဝီမြေတို့က ကျွန်တော်မျိုးတို့သည် ကျေနပ်စွာ လာခဲ့ကြပါပြီဟု လျှောက်ထားခဲ့ကြလေ၏။

فَقَضٰهُنَّ سَبۡعَ سَمٰوَاتٍ فِىۡ يَوۡمَيۡنِ وَاَوۡحٰى فِىۡ كُلِّ سَمَآءٍ اَمۡرَهَا ؕ وَزَيَّنَّا السَّمَآءَ الدُّنۡيَا بِمَصَابِيۡحَ ۖ وَحِفۡظًا ؕ ذٰ لِكَ تَقۡدِيۡرُ الۡعَزِيۡزِ الۡعَلِيۡمِ ﴿۱۲﴾

၁၂။ ထို့နောက် ထိုအရှင်မြတ်သည် ယင်းမိုးကောင်းကင်ကို နှစ်ရက်နှင့် မိုးခုနစ်ထပ်ပြုလုပ်တော်မူခဲ့၏။ ထိုမှတစ်ပါး မိုးကောင်းကင် အသီးသီး၌ ၎င်းနှင့် သက်ဆိုင် သင့်မြတ်သော အမိန့်တော်ကို ထုတ်ပြန်တော်မူခဲ့၏။ ထို့ပြင်တစ်ဝ ငါအရှင်မြတ်သည် အနီးဆုံး (ဖြစ်သော အောက်ဆုံး)မိုးထပ်ကို ကြယ်နက္ခတ်ဖြင့် တင့်တယ်စွာ တန်ဆာဆင်ယင်တော်မူခဲ့၏။ ထိန်းသိမ်းတော်မူခဲ့၏။ ဤသည် အလွန်တရာ နိုင်နင်းလွှမ်းမိုးတော်မူသော၊ အကြွင်းမဲ့သိတော်မူသော အရှင်မြတ်၏ စီမံခန့်ခွဲသတ်မှတ်ပြဋ္ဌာန်းခြင်းပင် ဖြစ်ပေသတည်း။ [၁]

فَاِنۡ اَعۡرَضُوۡا فَقُلۡ اَنۡذَرۡتُكُمۡ صٰعِقَةً مِّثۡلَ صٰعِقَةِ عَادٍ وَّثَمُوۡدَ ﴿۱۳﴾

၁၃။ သို့ပါလျက် (အို-နဗီတမန်တော်) အကယ်၍ ၎င်းတို့သည် မျက်နှာလွှဲသွားခဲ့ကြလျှင် အသင်သည် ၎င်းတို့အား (ဤသို့)ပြောကြားပါလေ။ (အချင်းတို့၊) ငါသည် အသင်တို့အား "အာဒ်" အမျိုးသားတို့(၌ ဆိုက်ရောက်ခဲ့သော) ပြစ်ဒဏ်မျိုးနှင့်စပ်လျဉ်း၍လည်းကောင်း၊ "ဆမူဒ်" အမျိုးသား(တို့၌ ဆိုက်ရောက်ခဲ့သော) ပြစ်ဒဏ်မျိုးနှင့် စပ်လျဉ်း၍လည်းကောင်း၊ သတိပေး နှိုးဆော်၏။

---

(၁) အလ္လာဟ်အရှင်မြတ်သည် ဤကမ္ဘာမြေကြီးကို နှစ်ရက်နှင့် ဖန်ဆင်းတော်မူခဲ့သည်။ ကမ္ဘာမြေကြီး မယိမ်းယိုင်ရန်အတွက် ၎င်းအပေါ်တွင် တောင်ကြီးများကို တည်ထားတော်မူသည်။ လူသားတို့အကျိုးငှာ ဓာတ်သတ္တုအမျိုးမျိုး၊ သစ်ပင်အစားစား၊ သစ်သီးဝလံအပြားပြား၊ တိရစ္ဆာန်အစုံစုံတို့ကိုလည်း ဖြစ်ပွားစေထားတော်မူသည်။ လူသားတို့ မှီဝဲစားသုံးနိုင်ကြရန်အလို့ငှာ အစာအာဟာရများကိုလည်း စနစ်တကျ စီမံထားတော်မူသည်။ ကမ္ဘာမြေကြီးကို ဖန်ဆင်းတော်မူရာတွင် နှစ်ရက်၊ ကမ္ဘာမြေကြီးနှင့် ဆက်စပ်လျက်ရှိသည်များကို ဖန်ဆင်းတော်မူရာတွင် နှစ်ရက်၊ လေးရက်ကြာခဲ့သည်။ ထို့နောက် အလ္လာဟ်အရှင်မြတ်သည် မိုးကောင်းကင်သို့ လှည့်တော်မူခဲ့သည်။ ထိုအချိန်တွင် မိုးကောင်းကင်သည် အခိုးအငွေ့သာ ဖြစ်ရှိနေခဲ့ပေသည်။ ထိုအရှင်မြတ်သည် နှစ်ရက်နှင့် မိုးကောင်းကင် ခုနစ်ထပ်ကို ဖန်ဆင်းတော်မူသည်။ မိုးကောင်းကင်တိုင်း၌ သက်ဆိုင်ရာ အမိန့်တော်များကိုလည်း ထုတ်ပြန်တော်မူခဲ့သည်။ ထို့ပြင်တဝ ဤကမ္ဘာမြေကြီးနှင့် အနီးစပ်ဆုံးဖြစ်သော မိုးကောင်းကင်ကို ကြယ်၊နက္ခတ်တို့ဖြင့် လှပတင့်တယ် ရှုချင်စဖွယ် တန်ဆာဆင်ယင်ထားတော်မူသည်။ မည်သူမျှ မဖျက်ဆီးနိုင်ရန်အတွက် စနစ်တကျ အကာအကွယ်များလည်း ပြုလုပ်ထားတော်မူသည်။ ကျွန်ုပ်တို့တွေ့မြင် နေကြရသော မိုး၊ မြေနှင့်တကွ ➤➤

إِذْ جَآءَتْهُمُ الرُّسُلُ مِنْۢ بَيْنِ
أَيْدِيهِمْ وَمِنْ خَلْفِهِمْ
أَلَّا تَعْبُدُوٓا إِلَّا اللّٰهَ قَالُوا
لَوْ شَآءَ رَبُّنَا لَأَنْزَلَ مَلٰٓئِكَةً
فَإِنَّا بِمَآ أُرْسِلْتُمْ بِهٖ كٰفِرُونَ ⑭

၁၄။ အကြင်အခါဝယ် ၎င်း("အာဒ်"နှင့် "ဆမူဒ်" အမျိုးသား)တို့ထံ ၎င်းတို့၏ ရှေ့နောက် (ဝဲယာ)မှ ရစူလ်တမန်တော်များ ရောက်ရှိလာပြီးလျှင် "အသင်တို့သည် အလ္လာဟ်အရှင်မြတ်မှတစ်ပါး အခြား တစ်စုံတစ်ရာကိုမျှ ဆည်းကပ်ကိုးကွယ်ခြင်း မပြုကြကုန်နှင့်(ဟု ဟောကြားခဲ့ကြကုန်၏။) (ထိုအခါ) ၎င်းတို့က ကျွန်ုပ်တို့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်သည် အလိုရှိတော်မူခဲ့ပါလျှင် အမှန်ပင် "မလာအိကဟ်" ကောင်းကင်တမန်များအား စေလွှတ်တော်မူခဲ့ပေမည်။ သို့ဖြစ်ပေရာ ဧကန်မလွဲ ကျွန်ုပ်တို့သည် အသင်တို့ (ပေး၍) စေလွှတ်ခြင်းခံခဲ့ရသော အကြောင်းအရာတို့ကို ငြင်းပယ်ကြသည်ဟု ပြောဆိုခဲ့ကြကုန်၏။

فَأَمَّا عَادٌ فَاسْتَكْبَرُوا فِي
الْأَرْضِ بِغَيْرِ الْحَقِّ وَقَالُوا مَنْ
أَشَدُّ مِنَّا قُوَّةً أَوَلَمْ يَرَوْا أَنَّ اللّٰهَ
الَّذِي خَلَقَهُمْ هُوَ أَشَدُّ مِنْهُمْ
قُوَّةً وَكَانُوا بِاٰيٰتِنَا يَجْحَدُونَ ⑮

၁၅။ မည်သို့ပင်ဖြစ်စေ၊ "အာဒ်" အမျိုးသားတို့မှာမူကား တိုင်းပြည်တွင် မတရားသဖြင့် ဘဝင်မြင့်မောက်မာ ပလွှားခဲ့ကြကုန်၏။ ထို့ပြင် ၎င်းတို့က ကျွန်ုပ်တို့ထက် သူရသတ္တိ ခွန်အားဗလကြီးမားသူ မည်သူရှိသနည်းဟု ပြောဆို(ဝင့်ကြွား)ခဲ့ကြကုန်၏။ ဧကန်မလွဲ ၎င်းတို့အား ဖန်ဆင်းတော်မူခဲ့သော အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့ထက် ခွန်အား ဗလကြီးမားတော်မူသည်ကို ၎င်းတို့သည် မဆင်ခြင် မစဉ်းစား မမြင်ခဲ့ကြလေသလော။ ထိုမှတစ်ပါး ၎င်းတို့သည် ငါအရှင်မြတ်၏ သက်သေလက္ခဏာတော်များကို ငြင်းပယ်လျက်ပင် ရှိခဲ့ကြကုန်၏။

➤➤ ကမ္ဘာတန်ဆာပလာများမှာ အလ္လာဟ်အရှင်မြတ် ဖန်ဆင်းထားတော်မူသော အရာများသာလျှင် ဖြစ်သည်။ အလ္လာဟ်အရှင်မြတ်သည် မိုးမြေနှင့်တကွ စကြာဝဠာအဝန်းကို ဖန်ဆင်းတော်မူသော ပြုစုပျိုးထောင်ပေးတော်မူသော စီမံကွပ်ကဲတော်မူသော၊ စိုးပိုင်တော်မူသော တစ်ဆူတည်းသာ အရှင်သခင်ဖြစ်တော်မူသည်။ သို့ပါလျက် ကာဖိရ်၊ မုရှ်ရစ်က်တို့သည် ထိုသို့သော အလ္လာဟ်အရှင်မြတ်အား သွေဖည်ငြင်းပယ်နေကြသည်လော။ ထိုသို့သော အလ္လာဟ်အရှင်မြတ်၌ ဂုဏ်ရည်များထားနေကြသည်လော။

فَأَرْسَلْنَا عَلَيْهِمْ رِيحًا صَرْصَرًا
فِيٓ أَيَّامٍ نَّحِسَاتٍ لِّنُذِيقَهُمْ
عَذَابَ الْخِزْيِ فِي الْحَيَوٰةِ
الدُّنْيَا ۖ وَلَعَذَابُ الْاٰخِرَةِ أَخْزٰى
وَهُمْ لَا يُنصَرُونَ ﴿١٦﴾

၁၆။ သို့ဖြစ်ပေရာ ငါအရှင်မြတ်သည် (၎င်းတို့အဖို့) ကျက်သရေ မင်္ဂလာကင်းမဲ့သော နေ့ရက်များတွင် ကြမ်းတန်းလှစွာသောလေမုန်တိုင်းကို ၎င်းတို့အပေါ်၌ စေလွှတ်တော်မူခဲ့၏။ (ယင်းသို့ လေမုန်တိုင်းကို စေလွှတ်တော်မူခြင်းမှာ) ငါအရှင်မြတ်သည် ၎င်းတို့အား ဤမျက်မှောက်လောကီဘဝ၌ပင် ဂုဏ်အသရေ နိမ့်ကျစေသော ပြစ်ဒဏ်ကို မြည်းစမ်းစေတော်မူအံ့ သောငှာ (စေလွှတ်တော်မူခြင်း) ဖြစ်၏။

ထို့ပြင် "အာခိရတ်" တမလွန်ဘဝ၏ပြစ်ဒဏ်မှာ သာ၍ပင် ဂုဏ်အသရေ နိမ့်ကျစေသော ပြစ်ဒဏ် ဖြစ်မည်။ ထိုအခါ ၎င်းတို့မှာ ကူညီစောင်မခြင်း ခံကြရမည်လည်း မဟုတ်ပေ။

وَأَمَّا ثَمُودُ فَهَدَيْنٰهُمْ فَاسْتَحَبُّوا
الْعَمٰى عَلَى الْهُدٰى فَأَخَذَتْهُمْ
صٰعِقَةُ الْعَذَابِ الْهُونِ بِمَا
كَانُوا يَكْسِبُونَ ﴿١٧﴾

၁၇။ ထို့ပြင် "ဆမူဒ်" အမျိုးသားတို့မှာမူကား အမှန်စင်စစ် ငါအရှင်မြတ်သည် ၎င်းတို့အား တရားလမ်းမှန်ကို ညွှန်ပြတော်မူခဲ့သော်လည်း ၎င်းတို့မှာ တရားလမ်းမှန်ကို မြင်ခြင်းထက် မျက်စိကန်းခြင်း ကိုသာ နှစ်သက်မြတ်နိုးခဲ့ကြကုန်၏။ သို့ဖြစ်ပေရာ ၎င်းတို့အား ၎င်းတို့၏ဆည်းပူးခဲ့ကြသည်များကြောင့် ဂုဏ်အသရေ ပျက်ပြားနိမ့်ကျစေသောပြစ်ဒဏ်၏ လောင်မီးသည် ဖမ်းဆီးကွပ်မျက်ခဲ့လေ၏။

وَنَجَّيْنَا الَّذِينَ اٰمَنُوا
وَكَانُوا يَتَّقُونَ ﴿١٨﴾

၁၈။ သို့ရာတွင် ငါအရှင်မြတ်သည် သက်ဝင်ယုံကြည်၍ (ငါအရှင်မြတ်အား) ကြောက်ရွံ့လျက်ရှိခဲ့ကြကုန်သော သူတို့ကိုမူကား လွတ်မြောက်စေတော်မူခဲ့ပေသတည်း။

وَيَوْمَ يُحْشَرُ أَعْدَآءُ اللّٰهِ

၁၉။ ထိုမှတစ်ပါး (အို–နဗီတမန်တော်၊ အသင်သည် ၎င်းတို့အား ထိုနေ့ကို သတိရစေပါလေ)။ အကြင်နေ့

إِلَى النَّارِ فَهُمْ يُوزَعُونَ ﴿١٩﴾

တွင် အလ္လာဟ်အရှင်မြတ်၏ ရန်သူများသည် ငရဲမီး၏ အနီးသို့ စုရုံးခေါ်ဆောင်ခြင်းခံကြရပေမည်။ ထို့နောက် ၎င်းတို့သည် တားဆီးခြင်းကို ခံကြရပေမည်။

حَتَّىٰ إِذَا مَا جَاءُوهَا شَهِدَ عَلَيْهِمْ سَمْعُهُمْ وَأَبْصَارُهُمْ وَجُلُودُهُم بِمَا كَانُوا يَعْمَلُونَ ﴿٢٠﴾

၂၀။ နောက်ဆုံးတွင် ထိုသူတို့သည် ယင်းငရဲမီး၏ အနီးရောက်ရှိကြသောအခါ ထိုသူတို့၏ နားများသည်လည်းကောင်း၊ ထိုသူတို့၏ မျက်စိများသည်လည်းကောင်း၊ ထိုသူတို့၏ သားရေများသည်လည်းကောင်း၊ ထိုသူတို့နှင့်ဆန့်ကျင်ကာ ထိုသူတို့ကျင့်မူလျက် ရှိခဲ့ကြသည်တို့နှင့် စပ်လျဉ်း၍ သက်သေခံကြပေမည်။

وَقَالُوا لِجُلُودِهِمْ لِمَ شَهِدتُّمْ عَلَيْنَا ۖ قَالُوا أَنطَقَنَا اللَّهُ الَّذِي أَنطَقَ كُلَّ شَيْءٍ وَهُوَ خَلَقَكُمْ أَوَّلَ مَرَّةٍ وَإِلَيْهِ تُرْجَعُونَ ﴿٢١﴾

၂၁။ (ထိုအခါ) ၎င်းတို့က မိမိတို့၏(အသား) အရေများကို "အသင်တို့သည် ကျွန်ုပ်တို့နှင့်ဆန့်ကျင်၍ အဘယ်ကြောင့် သက်သေ ထွက်ဆိုကြသနည်း" ဟု ပြောဆိုကြပေမည်။

(ထိုအခါ) ယင်း(နား၊ မျက်စိနှင့်သားရေ)တို့က (ဤသို့) ပြောဆို (ပြန်ကြား)ကြပေမည်။ ကျွန်ုပ်တို့အား အကြင်အလ္လာဟ်အရှင်မြတ်သည်ပင် စကားပြောဆိုစေတော်မူ၏။ ထိုအရှင်မြတ်သည် အရာခပ်သိမ်းတို့ကို စကားပြောဆိုစေတော်မူခဲ့၏။ စင်စစ်သော်ကား ထိုအရှင်မြတ်သည်ပင် အသင်တို့အား ပထမအကြိမ် ဖန်ဆင်းတော်မူခဲ့၏။ ထို့အပြင် အသင်တို့သည် ထိုအရှင်မြတ်အထံတော်သို့ပင် ပြန်လည် ရောက်စေခြင်းကို ခံကြရလေသည်။ [၁]

(၁) ဟဒီးဆ်ကျမ်းဂါ ဒတော်များတွင် လာရှိသည်မှာ- ကာဖိရ်များသည် ကိယာမတ်နေ့တွင် စစ်ဆေးမေးမြန်းရာဌာနသို့ ခေါ်ဆောင်လာခြင်း ခံကြရသောအခါ ပထမသော် မိမိတို့ကျူးလွန်ခဲ့ကြသော အပြစ်များကို ငြင်းကွယ်ကြပေမည်။ ထိုအခါ အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်အရ ၎င်းတို့၏နား၊မျက်စိ၊ သားရေ စသည့် ကိုယ်အင်္ဂါ အစိတ်အပိုင်းများက ၎င်းတို့နှင့် ဆန့်ကျင်၍ ဖြစ်ရပ်မှန်များကို ထုတ်ဖော်သက်သေထွက်ဆိုကြပေမည်။ ယင်းသို့ သက်သေထွက်ဆို ကြသည့်အခါ ကာဖိရ်များက မိမိတို့၏ ကိုယ်အင်္ဂါအစိတ်အပိုင်းများကို အသင်တို့သည် ➤➤

وَمَا كُنْتُمْ تَسْتَتِرُوْنَ اَنْ يَّشْهَدَ عَلَيْكُمْ سَمْعُكُمْ وَلَآ اَبْصَارُكُمْ وَلَا جُلُوْدُكُمْ وَلٰكِنْ ظَنَنْتُمْ اَنَّ اللّٰهَ لَا يَعْلَمُ كَثِيْرًا مِّمَّا تَعْمَلُوْنَ ﴿٢٢﴾

၂၂။ စင်စစ်သော်ကား မိမိတို့၏ နားများသည်လည်းကောင်း၊ မိမိတို့၏မျက်စိများသည်လည်းကောင်း၊ မိမိတို့၏ (အသား)အရေများသည်လည်းကောင်း၊ မိမိတို့နှင့်ဆန့်ကျင်၍ သက်သေခံကြမည်ကို စိုးရိမ်ကာ သက်သေမခံနိုင်ကြရန် အသင်တို့ ဖုံးကွယ်နိုင်ကြသည်မဟုတ်ပေ။ သို့ရာတွင် အသင်တို့သည် မိမိတို့ကျင့်မူကြသည်တို့အနက် များစွာတို့ကို အလ္လာဟ်အရှင်မြတ် သိတော်မူသည်မဟုတ်ဟု ထင်မှတ်ခဲ့ကြကုန်၏။ ၁

وَذٰلِكُمْ ظَنُّكُمُ الَّذِىْ ظَنَنْتُمْ بِرَبِّكُمْ اَرْدٰىكُمْ فَاَصْبَحْتُمْ مِّنَ الْخٰسِرِيْنَ ﴿٢٣﴾

၂၃။ စင်စစ်သော်ကား အသင်တို့သည် မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်နှင့်ပတ်သက်၍ ထင်မြင်ယူဆခဲ့ကြသော ထိုထင်မြင်ယူဆချက်သည်ပင်လျှင် အသင်တို့အား ဖျက်ဆီးခဲ့လေ၏။ သို့ဖြစ်ပေရာ အသင်တို့သည် ပျက်စီးဆုံးရှုံးသူများပင် ဖြစ်ခဲ့ကြပေသည်။

➤➤ ငါတို့နှင့်ဆန့်ကျင်၍အဘယ်ကြောင့် သက်သေထွက်ဆိုကြသနည်း။ ငါတို့သည် အသင်တို့ကို ကာကွယ်နေခဲ့ကြသည်။ အသင်တို့ဘက်မှ ပြစ်မှုများကို ငြင်းကွယ်နေကြသည်။ ယခုမူ အသင်တို့ကိုယ်တိုင်က မိမိတို့အပြစ်များကို ဝန်ခံနေကြသည်ဟု အံ့သြကြီးစွာဖြင့် ကဲ့ရဲ့ပြစ်တင်ကြပေမည်။ ကိုယ်အင်္ဂါအစိတ်အပိုင်းများက–အရာရာကို ပြောဆိုနိုင်စွမ်းပေးတော်မူသော အရှင်က ငါတို့အားလည်း ပြောဆိုနိုင်စွမ်းပေးတော်မူရာ ငါတို့သည် ထိုအရှင်မြတ်၏ ရှေ့တော်၌ ဟုတ်မှန်ရာကို ထွက်ဆိုသက်သေခံကြရခြင်း ဖြစ်သည်။ ငါတို့သည် ထိုသို့သော အရှင်မြတ်၏ရှေ့တော်၌ ဟုတ်မှန်ရာကို အသို့လျှင် ဖုံးကွယ်နိုင်ကြအံ့နည်းဟု ဖြေကြားကြပေမည်။ထိုအခါ ကာဖိရ်များသည် မည်သို့မျှ မငြင်းကွယ်နိုင်ကြတော့ဘဲ နှုတ်ပိတ်သွားကြပေမည်။

(၁) အလ္လာဟ်အရှင်မြတ်သည် ဉာဏ်တော်အနန္တရှင် ဖြစ်တော်မူသည်။ အရာခပ်သိမ်းကုန်တို့ကို အကြွင်းမဲ့သိတော်မူသည်။ သို့ရာတွင် ကာဖိရ်များကမူ ငါတို့သည် မိမိတို့အလိုရှိသလို ပြောဆိုကျင့်မူနိုင်ကြသည်။ မည်သူမျှကြည့်နေသည်မဟုတ်၊ သိနေသည်လည်း မဟုတ်ဟု ထင်မှတ်နေခဲ့ကြသည်။ ဤသည် အလ္လာဟ်အရှင်မြတ်နှင့် ပတ်သက်၍ ၎င်းတို့၏အထင်လွဲမှားမှုပင်။ ယင်းသို့ အထင်လွဲမှားမှုကြောင့်ပင် ၎င်းတို့သည် စိတ်ထင်ရာ စိုင်းခဲ့ကြသည့်အတွက် ပျက်စီးဆုံးရှုံးခဲ့ကြရလေပြီ။ အကယ်၍ အလ္လာဟ်အရှင်မြတ်သည် ငါတို့၏ ပြောဆိုကျင့်ကြံမှုအစုစုကို အကြွင်းမဲ့သိတော်မူသည်။ အရာရာကိုလည်း မှတ်တမ်းတင်ထားတော်မူသည်၊ မှတ်သားထားတော်မူသည်ကို သိရှိကြပါက ယင်းကာဖိရ်များသည် ဤရွေ့ဤမျှ မိုက်မှားဝံ့ခဲ့ကြမည်မဟုတ်ပေ။

فَإِن يَصۡبِرُواْ فَٱلنَّارُ مَثۡوٗى لَّهُمۡۖ وَإِن يَسۡتَعۡتِبُواْ فَمَا هُم مِّنَ ٱلۡمُعۡتَبِينَ ٢٤

၂၄။ သို့ဖြစ်ရာ အကယ်၍ ၎င်းတို့သည် (ဤသည့် ပျက်စီးဆုံးရှုံးမှု အပေါ်၌) သည်းခံနေကြလျှင်လည်း ငရဲမီးသည် ၎င်းတို့၏ နေထိုင်ရာဌာနပင် ဖြစ်၏။ ထိုနည်းတူစွာ အကယ်၍ ၎င်းတို့သည် နှစ်သက်မှုကို ရယူလိုကြသော်လည်း ၎င်းတို့သည် နှစ်သက်မှုကို ရရှိကြမည်မဟုတ်ပေတကား။

۞وَقَيَّضۡنَا لَهُمۡ قُرَنَآءَ فَزَيَّنُواْ لَهُم مَّا بَيۡنَ أَيۡدِيهِمۡ وَمَا خَلۡفَهُمۡ وَحَقَّ عَلَيۡهِمُ ٱلۡقَوۡلُ فِيٓ أُمَمٖ قَدۡ خَلَتۡ مِن قَبۡلِهِم مِّنَ ٱلۡجِنِّ وَٱلۡإِنسِۖ إِنَّهُمۡ كَانُواْ خَٰسِرِينَ ٢٥

၂၅။ အမှန်သော်ကား ငါအရှင်မြတ်သည် ၎င်းတို့အဖို့ အပေါင်းအဖော်များ ပြုလုပ်တော်မူခဲ့ရာ ထိုအပေါင်းအဖော်တို့သည် ၎င်းတို့၏ရှေ့နောက် အပြုအမူများကို ၎င်းတို့အမြင်၌ လှပတင့်တယ်အောင် ပြုလုပ်ခဲ့ကြပေသည်။ ထို့ပြင် (အလ္လာဟ်အရှင်မြတ်၏) အမိန့်တော်သည် "ဂျင်န်(န်)" သတ္တဝါများအနက်မှလည်းကောင်း၊ လူသားတို့အနက်မှလည်းကောင်း၊ ရှေးလွန်လေပြီးသော အမျိုးသားတို့နှင့်အတူ ၎င်းတို့နှင့် ပတ်သက်၍လည်း အမှန်ဖြစ်ခဲ့ပြီ။ ဧကန်စင်စစ် ၎င်းတို့(အားလုံး)သည် ဆုံးရှုံး ပျက်စီးသူများပင် ဖြစ်ကြကုန်၏။ [၁]

وَقَالَ ٱلَّذِينَ كَفَرُواْ لَا تَسۡمَعُواْ لِهَٰذَا ٱلۡقُرۡءَانِ وَٱلۡغَوۡاْ فِيهِ لَعَلَّكُمۡ تَغۡلِبُونَ ٢٦

၂၆။ စင်စစ်သော်ကား "ကာဖိရ်" သွေဖည်ငြင်းပယ်သောသူတို့က "အသင်တို့သည် ကုရ်အာန်ကို နားပင်မထောင်ကြကုန်လင့်။ ထို့ပြင် အသင်တို့သည် ယင်းကုရ်အာန် (ဖတ်ကြားနေသောအချိန်) စပ်ကြားတွင် ဆူညံကြလေကုန်။ သို့မှသာလျှင် အသင်တို့သည် (မိမိတို့ အသံများဖြင့် မုဟမ္မဒ်၏အသံကို) လွှမ်းမိုးနိုင်ကြမည်။ [၂]

(၁) ကာဖိရ်များသည် အလ္လာဟ်အရှင်မြတ်၏ ဒေသနာတော်များကို သွေဖည်ကျောခိုင်းလာခဲ့ကြ၏။ ထို့အတွက် အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့အပေါ်၌ ရှိုင်တွာန်များကို အပေါင်းအဖော်များအဖြစ် ခန့်အပ်ပေးတော်မူခဲ့၏။ ယင်းရှိုင်တွာန်များသည် ၎င်းတို့၏ ရှေ့၊နောက်၊ အပြုအမူများကို ၎င်းတို့၏အမြင်တွင် တင့်တယ်အောင် ပြုလုပ်ထားခဲ့ကြ၏။ သို့ဖြစ်ရာ ၎င်းတို့သည် မိမိတို့၏ အမှားများကိုပင် အမှန်ဟူ၍မြင်ကာ မှားခြင်းကြီးမက ➢➢

فَلَنُذِيقَنَّ الَّذِينَ كَفَرُوا عَذَابًا شَدِيدًا وَلَنَجْزِيَنَّهُمْ أَسْوَأَ الَّذِي كَانُوا يَعْمَلُونَ ﴿٢٧﴾

၂၇။ သို့ဖြစ်ပေရာ အမှန်စင်စစ် ငါအရှင်မြတ်သည် "ကာဖိရ်" သွေဖည်ငြင်းပယ်သောသူတို့အား ပြင်းထန်လှစွာသော ပြစ်ဒဏ်ကို မြည်းစမ်းစေတော်မူပေမည်။ ထို့ပြင် ဧကန်မလွဲ ငါအရှင်မြတ်သည် ၎င်းတို့အား ၎င်းတို့ကျင့်မူလျက်ရှိခဲ့ကြသော အဆိုးဆုံးသောကျင့်မူချက်များ၏မကောင်းကျိုးကို ပေးတော်မူမည်ဖြစ်၏။

ذَٰلِكَ جَزَاءُ أَعْدَاءِ اللَّهِ النَّارُ ۖ لَهُمْ فِيهَا دَارُ الْخُلْدِ ۖ جَزَاءً بِمَا كَانُوا بِآيَاتِنَا يَجْحَدُونَ ﴿٢٨﴾

၂၈။ ထိုသည်(ဝါ)ငရဲမီးသည် အလ္လာဟ်အရှင်မြတ်၏ရန်သူတို့၏ဆိုးကျိုးပင် ၎င်းတို့အဖို့ ငရဲမီး၌ အစဉ်ထာဝရ နေထိုင်ရာဌာနသည် ရှိပေသည်။ (ဤသည်) ငါအရှင်မြတ်၏အာယတ်တော်များကို ၎င်းတို့ ငြင်းပယ်လေ့ရှိခဲ့ကြသောကြောင့် အစားပေးခြင်းပင်ဖြစ်ပေသည်။

---

➤➤ များ၍ လာခဲ့ကြ၏။ သွေဖည်ခြင်းကြီးမက သွေဖည်လာခဲ့ကြ၏။ နောက်ဆုံးတွင် အတိတ်ခေတ်၌ အမှားကြီးမှားခဲ့ကြသော သွေဖည်ခြင်းကြီးမက သွေဖည်ခဲ့ကြသောလူများ၊ ဂျင်န်များနည်းတူ ပြစ်ဒဏ်ခတ်ရန် အမိန့်တော်သည် ၎င်းတို့အပေါ်၌လည်း အတည်ဖြစ်သွားခဲ့ပေသည်။ ဒေသနာတော်ကို သွေဖည်ကျောခိုင်းသူများ အပေါ်၌ ရှိုင်တွာန်များကို အပေါင်းအဖော်အဖြစ် သတ်မှတ်ခန့်အပ် ပေးတော်မူသည့်အကြောင်း ကုရ်အာန်(၄၃း၃၆) တွင်လည်း မိန့်ဆိုထားတော်မူသည်။

① ကုရ်အာန်ကျမ်းလာ ဒေသနာတော်များသည် အလ္လာဟ်အရှင်မြတ်၏ အာယတ်တော်များဖြစ်ရာ "ကိရာအတ်" ပညာဖြင့် ဌာဏ်၊ကရိဏ်း ကျနစွာ ရွတ်ဖတ်သရဇ္ဈာယ်ပါက ကြားနာရသူများ၌ ကဏ္ဍသုခဖြစ်စေလှ၏။ အနက် အဓိပ္ပာယ်ပြည့်ဝ လေးနက်လှသည်ဖြစ်ရာ ကြားနာရသူများ၏ စိတ်နှလုံးသားများကို ထိမိစွဲငြိစေ၏။ ကုရ်အာန်ကျမ်းလာ အာယတ်တော်များကို ကြားနာရသူများသည် ကုရ်အာန်ကျမ်းမြတ်ကို အစွဲကြီးစွဲသွားကြ၏။ ထို့အတွက် ကာဖိရ်များက မိမိတို့အချင်းချင်း ကုရ်အာန်ကျမ်းလာ အာယတ်တော်များကို ရွတ်ဖတ်သရဇ္ဈာယ်သော အခါ အသင်တို့သည် ဆူဆူညံညံပြုလုပ်ကြ။ အသင်တို့လည်း နားမထောင်ကြနှင့် သူတစ်ပါးတို့အားလည်း နားထောင်ခွင့်မပြုကြနှင့်။ ဤသို့ဆူညံစွာ ပြုလုပ်ကြလျှင် အသင်တို့၏အသံများသည် လွှမ်းမိုးသွားမည်။ ကုရ်အာန်၏အသံသည် ပျောက်ကွယ်သွားမည်ဟု ပြောဆိုခဲ့ကြသည်။ သို့ရာတွင် ကာဖိရ်များ သိထားအပ်သည်မှာ ကုရ်အာန်၏အသံသည် မှန်ကန်သော အသံပင်ဖြစ်သည်။ ကာဖိရ်များသည် အဘယ်မျှပင် ကြိုးစားကြလင့်ကစား ကုရ်အာန်အသံသည် တိမ်မြုပ်သွားမည်မဟုတ်၊ ထွက်ပေါ်လာမည်ပင်၊ စိတ်နှလုံးသားများအတွင်းသို့ သက်ရောက်၊ ထိမိစွဲငြိသွားမည်ပင်။

အမှန်တရားကို မိမိကိုယ်တိုင်လည်း နားမထောင်၊ သူတပါးကိုလည်း နားထောင်ခွင့်မပေး၊ ထို့ထက်ဆိုးရွားသော ပြစ်မှုသည် အဘယ်မှာလျှင် ရှိနိုင်အံ့နည်း။ အလ္လာဟ်အရှင်မြတ်သည် ထိုသည့်ပြစ်မှုကို ကျူးလွန်သူများအား ထိုက်သည့်အားလျော်စွာ ကြီးလေးသောပြစ်ဒဏ် ခတ်တော်မူမည်သာတည်း။

وَقَالَ الَّذِيْنَ كَفَرُوْا رَبَّنَآ اَرِنَا الَّذَيْنِ اَضَلّٰنَا مِنَ الْجِنِّ وَالْاِنْسِ نَجْعَلْهُمَا تَحْتَ اَقْدَامِنَا لِيَكُوْنَا مِنَ الْاَسْفَلِيْنَ ﴿٢٩﴾

၂၉။ ထိုအခါ "ကာဖိရ်" သွေဖည်ငြင်းပယ်သောသူတို့က လျှောက်ထားကြပေမည်။ "အိုး-ကျွန်တော်မျိုးတို့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင် ဂျင်န်(န်) သတ္တဝါတို့အနက်မှလည်းကောင်း၊ လူသားတို့အနက်မှလည်းကောင်း၊ ကျွန်တော်မျိုးတို့အား လမ်းလွဲစေခဲ့ကြသူ နှစ်ဦးလုံးကို အရှင်မြတ်သည် ကျွန်တော်မျိုးတို့အား ပြတော်မူပါ။ ၎င်းတို့သည် ဂုဏ်အသရေ အညံ့ဆုံးသောသူများ (ငရဲမီးတွင်) အောက်ဆုံး၌ ရှိသူများ ဖြစ်ကြစေရန် ၎င်းတို့နှစ်ဦးအား ကျွန်တော်မျိုးသည် မိမိတို့၏ ခြေများအောက်တွင် ထားရှိကြပါမည်။

اِنَّ الَّذِيْنَ قَالُوْا رَبُّنَا اللّٰهُ ثُمَّ اسْتَقَامُوْا تَتَنَزَّلُ عَلَيْهِمُ الْمَلٰٓئِكَةُ اَلَّا تَخَافُوْا وَلَا تَحْزَنُوْا وَاَبْشِرُوْا بِالْجَنَّةِ الَّتِىْ كُنْتُمْ تُوْعَدُوْنَ ﴿٣٠﴾

၃၀။ ဧကန်အမှန် အကြင်သူတို့သည် "ကျွန်တော်မျိုးတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်ကား အလ္လာဟ်အရှင်မြတ်ပင် ဖြစ်တော်မူသည်" ဟု ပြောခဲ့ ဆိုခဲ့ကြပြီးနောက် (ယင်းယုံကြည်ချက်ပေါ်၌ပင်) ဖြောင့်မတ်ကြံ့ခိုင်စွာ တည်ရှိနေခဲ့ကြကုန်၏။ "မလာအိကဟ်" ကောင်းကင်တမန်များသည် ထိုသူတို့ထံ ဆင်းသက်လာ၍ ဤသို့ ပြောဆို နှစ်သိမ့်စေကြပေမည်။ "အသင်တို့သည် စိုးရိမ်ခြင်းလည်း မရှိကြကုန်လင့်။ ပူဆွေးခြင်းလည်း မရှိကြကုန်လင့်။ ထိုမှတစ်ပါး အသင်တို့သည် မိမိတို့ ကတိပေးခြင်း ခံခဲ့ကြသော "ဂျန္နတ်" သုခဘုံရရှိသည့်အတွက် ဝမ်းမြောက်ကြလေကုန်။

نَحْنُ اَوْلِيٰٓؤُكُمْ فِى الْحَيٰوةِ الدُّنْيَا وَفِى الْاٰخِرَةِ ۚ وَلَكُمْ فِيْهَا

၃၁။ ကျွန်ုပ်တို့သည် လောကီဘဝ၌တွင်လည်း အသင်တို့၏ အဆွေခင်ပွန်းများပင် ဖြစ်ခဲ့ကြကုန်၏။ ထိုနည်းတူစွာ "အာခိရတ်" တမလွန်ဘဝ၌လည်း အဆွေခင်ပွန်းများ ဖြစ်ကြမည်။

مَا تَشْتَهِيٓ أَنفُسُكُمْ وَلَكُمْ فِيهَا
مَا تَدَّعُونَ ﴿٣١﴾

ထို့ပြင် အသင်တို့ အဖို့ ယင်း"ဂျန္နတ်" သုခဘုံ၌ အသင်တို့ အလိုဆန္ဒရှိသော အရာဟူသမျှ ရှိကြမည့်ပြင် အသင်တို့အဖို့ ယင်း"ဂျန္နတ်" သုခဘုံ၌ အသင်တို့ တောင်းဆိုသော အရာဟူသမျှတို့သည်လည်း ရှိကြပေမည်။ ၁

نُزُلًا مِّنْ غَفُورٍ رَّحِيمٍ ﴿٣٢﴾

၃၂။ (ဤသည်) အလွန်တရာ ခွင့်လွှတ်ချမ်းသာပေးတော်မူသော၊ လွန်စွာ သနားကြင်နာ ညှာတာတော်မူသော အရှင်မြတ်အထံတော်မှ ဧည့်ခံတော်မူခြင်းပင် ဖြစ်ပေသတည်း။

وَمَنْ أَحْسَنُ قَوْلًا مِّمَّن دَعَآ
إِلَى ٱللَّهِ وَعَمِلَ صَٰلِحًا وَقَالَ
إِنَّنِى مِنَ ٱلْمُسْلِمِينَ ﴿٣٣﴾

၃၃။ စင်စစ်သော်ကား အကြင်သူထက် စကားအရာ၌ ကောင်းမြတ်သူကား အဘယ်သူနည်း။ ထိုသူသည် (သူတစ်ပါးတို့အား) အလ္လာဟ်အရှင်မြတ်ဘက်တော်သို့ ဖိတ်ခေါ်သည့်ပြင် (မိမိကိုယ်တိုင်လည်း) ကောင်းမြတ်သော အကျင့်သီလကို ကျင့်မူဆောက်တည်၏။ ထိုမှတစ်ပါး ဧကန်မလွဲ ကျွန်ုပ်သည် (မုစ်လင်မ်) အမိန့်တော်ကို နာခံသောသူတစ်ဦးဖြစ်သည်ဟု ပြော၏။

---

(၁) ဆိုလိုသည်ကား အကြင်မုအ်မင်န်များသည် အလ္လာဟ်အရှင်မြတ်အား စိတ်နှလုံးသားအတွင်းမှ နှစ်နှစ်ကာကာ ယုံကြည်ကြ၏။ သို့ယုံကြည်ကြသည့်အတိုင်း နှုတ်မှလည်း ဖွင့်ဟဝန်ခံပြောဆိုကြ၏။ ယင်းသည့် ယုံကြည်ချက်အပေါ်၌ပင် အသက်ထက်ဆုံး တည့်မတ်စွာ ရပ်တည်နေကြ၏။ "ရှရစ်က်" တွဲဖက်ကိုးကွယ်မှုကို ဝေးစွာရှောင်ကြဉ်ကြ၏။ အစ္စလာမ်၏ ကျင့်ရန်တရားများကို ရိုးသားစွာကျင့်ကြ၏။ ကြဉ်ရန်တရားများကို ကြည်ဖြူစွာကြဉ်ကြ၏။ အချုပ်အားဖြင့် အကြင်မုအ်မင်န်များသည် အလ္လာဟ်အရှင်မြတ်အား နှစ်နှစ်ကာကာ ယုံကြည်မြတ်နိုး ရိုကျိုးကြ၏။ ထိုအရှင်မြတ်၏ တရားလမ်းပေါ်၌ပင် အသက်ထက်ဆုံး တည့်မတ်စွာရပ်တည်ကာ နေထိုင်ကျင့်သုံးကြ၏။

ယင်းသို့သော မုအ်မင်န်ထံသို့ သေခါနီးအချိန်တွင်လည်းကောင်း၊ သင်္ချိုင်းတွင်း၌ လည်းကောင်း၊ သင်္ချိုင်းမှ ရှင်ပြန်ထသည့်အချိန်တွင် လည်းကောင်း၊ ကောင်းကင်တမန်များ ဆင်းသက်လာပြီးလျှင် အသင်တို့သည် နောင်ရေးများအတွက် မစိုးရိမ်ကြလင့်၊ လောကီရေးရာများကို စွန့်ခဲ့ကြရသည့်အတွက် မပူပန်ကြနှင့်၊ အသင်တို့ ကတိပေးခြင်းခံခဲ့ကြရသော ဂျန္နတ်သည် ရရှိတော့မည်ဖြစ်ရာ စိတ်ကြည်၊ ကိုယ်ချမ်း၊ ရွှင်လန်းကြကုန်။ ကျွန်ုပ်တို့သည် လူ့လောကတွင်လည်း အသင်တို့၏ မိတ်ဆွေများ ဖြစ်ခဲ့ကြသည်။ နောင်တမလွန်ဘဝတွင်လည်း အသင်တို့၏ မိတ်ဆွေများပင်ဖြစ်ကြပေမည်။



وَلَا تَسْتَوِى الْحَسَنَةُ وَلَا السَّيِّئَةُ ۗ اِدْفَعْ بِالَّتِىْ هِىَ اَحْسَنُ فَاِذَا الَّذِىْ بَيْنَكَ وَبَيْنَهٗ عَدَاوَةٌ كَاَنَّهٗ وَلِىٌّ حَمِيْمٌ ﴿٣٤﴾

၃၄။ အမှန်စင်စစ်သော်ကား ကောင်းမှုနှင့်မကောင်းမှုတို့မှာ တူကြသည်မဟုတ်ပေ၊ (သို့ဖြစ်ပေရာ) အသင်သည် (မကောင်းမှုကို) ကောင်းမှုဖြင့် ခုခံတွန်းလှန်ပါလေ။ သို့ဖြစ်လျှင် အကြင်သူနှင့် အသင်၏အကြား၌ ရန်ငြိုးရှိ၏။ ထိုသူသည် မိတ်ဆွေအရင်းကဲ့သို့ ဖြစ်လာပေမည်။ ၁

---

➤➤ ဂျန္နတ်တွင် အသင်တို့သည် စိတ်အာသာဆန္ဒရှိသမျှ၊ တောင်းဆိုသမျှ လိုလေသေးသည်မရှိ အသင့်ရရှိကြမည်။ ဤသည် အလွန် လွတ်ငြိမ်းခွင့်ပေးတော်မူသော၊ အလွန် သနားကြင်နာတော်မူသော အလ္လာဟ်အရှင်မြတ်ဘက်တော်မှ ဧည့်ခံမှုပင်၊ အသင်တို့သည် ထိုအရှင်မြတ်၏ ဧည့်သည်တော်များပင် ဖြစ်ကြသည်ဟု အားပေးစကား ပြောကြားကြပေမည်။ ကောင်းချီးပေးကြပေမည်။ ကာဖိရ်နှင့် မုအ်မင်န်၏ အကျိုးဆက်ချင်းကား ကွာခြားပါဘိတကား။

(၁) အထက်တွင် အလ္လာဟ်အရှင်မြတ်အား နှလုံးသည်းပွတ်တွင်းမှ နှစ်နှစ်ကာကာယုံကြည်၍ ယင်းသည့် ယုံကြည်ချက်ပေါ်၌ပင် အသက်ထက်ဆုံး တည့်မတ်စွာ ရပ်တည်နေခဲ့ကြသော မုအ်မင်န်သူတော်စင်များ၏ အကျိုးဆက်ကို မိန့်ဆိုထားတော်မူသည်။ ယခု ဤအာယတ်တော်များတွင် ယင်းသည့် မုအ်မင်န်သူတော်စင်များ၏ မြင့်မြတ်လှသော ဂုဏ်ရည်များကို မိန့်ဆိုထားတော်မူသည်။

လူ့လောကတွင် အကောင်းမြတ်ဆုံးသောပုဂ္ဂိုလ်ကား အခြားမဟုတ်၊ အကြင်ပုဂ္ဂိုလ်သည် လူသားတို့အား အလ္လာဟ်အရှင်မြတ် ဘက်တော်သို့ ဖိတ်ခေါ်၏။ မိမိကိုယ်တိုင်လည်း ထိုအရှင်မြတ်၏ ဒေသနာတော်များနှင့်အညီ ကောင်းမြတ်သော အကျင့်သီလများကို ဆောက်တည်ကျင့်မူ၏။ ထို့ပြင်တဝ ကျွန်ုပ်သည် "မုစ်လင်မ်" တစ်ဦးဖြစ်ပါသည်ဟု ဂုဏ်ယူပြောဆို၏ ထိုသူကား အကောင်းမြတ်ဆုံးပင်။ ပွင့်လေသမျှသော တမန်တော်အပေါင်းတို့သည် အထက်ပါအတိုင်း ဖိတ်ခေါ်ခဲ့ကြ၏။ တမန်တော်မြတ်သည်လည်း ဤအတိုင်းပင် ဖိတ်ခေါ်တော်မူခဲ့၏။ တမန်တော်မြတ်၏ (ဆွဟာဗဟ်) သာဝကကြီးများသည်လည်း တမန်တော်မြတ်၏ လမ်းစဉ်ကိုပင် အသက်ထက်ဆုံး ဖဝါးခြေထပ် လိုက်နာကျင့်သုံးခဲ့ကြ၏။

အလ္လာဟ်အရှင်မြတ်ဘက်တော်သို့ ဖိတ်ခေါ်သောပုဂ္ဂိုလ်များ၌ ကောင်းမြတ်သောကိုယ်ကျင့်တရားများ မုချရှိရပေမည်။ အကောင်းဆုံးနှင့် အဆိုးသည်မတူ။ အကျိုးဆက်ခြင်းလည်း မတူ။ အကောင်းသည် ကောင်းကျိုးပေး၏။ အဆိုးသည် ဆိုးကျိုးပေး၏။ သို့ဖြစ်ရာ အလ္လာဟ်အရှင်မြတ် ဘက်တော်သို့ ဖိတ်ခေါ်သော ပုဂ္ဂိုလ်မှန်တစ်ဦးသည် အဆိုးကို အဆိုးဖြင့်မတုံ့ပြန်ရာ။ အဆိုးကိုအကောင်းဖြင့်သာ တုံ့ပြန်ရာသည်။ ဥပမာ သူတပါးက မိမိအား မကောင်းပြုပါကလည်း မိမိကမူ ထိုသူအား အကောင်းပင်ပြုရမည်။ သူတပါးက မိမိအား ရိုင်းပြစွာ ဆက်ဆံပါကလည်း မိမိကမူ ယဉ်ကျေးသိမ်မွေ့စွာပင် ဆက်ဆံရမည်။ သူတပါးက မိမိအား ဆဲဆိုရေရွတ်ပါကလည်း မိမိကမူ ချိုအေးယဉ်ကျေးသော စကားကိုပင်ဆိုရမည်။ သူတပါးက မိမိအပေါ်၌ ဒေါသထားပါကလည်း မိမိကမူ ထိုသူ့အပေါ်၌ မေတ္တာပင်ထားရမည်။

သို့ဖြစ်လျှင် မိမိအပေါ်၌ ရန်ငြိုးထားသော ရန်သူ၏ ရန်ငြိုးသည်ပင်လျှင် ပြေလာပေမည်။ ရန်သူသည်ပင်လျှင် မိတ်ဆွေသဖွယ်ဖြစ်လာပေမည်။ နောက်ဆုံးတချိန် ရန်ငြိုးပြေကာ အမှန်တကယ်➤➤

وَمَا يُلَقّٰهَآ اِلَّا الَّذِيْنَ صَبَرُوْا
وَمَا يُلَقّٰهَآ اِلَّا ذُوْ حَظٍّ عَظِيْمٍ ﴿٣٥﴾

၃၅။ ထို့တစေလည်း ယင်းကောင်းမြတ်သောနည်း ဟူသည် သည်းခံသောသူတို့သာလျှင် ပေးသနားခြင်း ခံကြရပေသည်။ ထိုနည်းတူစွာ ယင်းကောင်းမြတ် သောနည်းဟူသည် ကြီးကျယ်စွာသော ဝေစုဝေပုံကို ပိုင်ဆိုင်သောသူသည်သာ ပေးသနားခြင်းကို ခံရလေသည်။

وَاِمَّا يَنْزَغَنَّكَ مِنَ الشَّيْطٰنِ
نَزْغٌ فَاسْتَعِذْ بِاللّٰهِ ۭ اِنَّهٗ
هُوَ السَّمِيْعُ الْعَلِيْمُ ﴿٣٦﴾

၃၆။ ၎င်းပြင် အကယ်၍ အသင့်အား "ရှိုင်တွာန်" ခိဿာကောင်၏ဘက်မှ တစ်စုံတစ်ရာ နှောင့်ယှက် ဖျက်ဆီးခြင်း ရှိပါလျှင်၊ အသင်သည် အလ္လာဟ်အရှင် မြတ်ထံတော်မှ အကာအကွယ်ကို တောင်းခံပါလေ။ ဧကန်မလွဲ ထိုအရှင်မြတ်သည်သာလျှင် အကြွင်းမဲ့ ကြားတော်မူသောအရှင်၊ အကြွင်းမဲ့ သိတော်မူသော အရှင်ဖြစ်တော်မူပေသတည်း။

وَمِنْ اٰيٰتِهِ الَّيْلُ وَالنَّهَارُ
وَالشَّمْسُ وَالْقَمَرُ ۭ لَا تَسْجُدُوْا
لِلشَّمْسِ وَلَا لِلْقَمَرِ وَاسْجُدُوْا
لِلّٰهِ الَّذِيْ خَلَقَهُنَّ اِنْ كُنْتُمْ
اِيَّاهُ تَعْبُدُوْنَ ﴿٣٧﴾

၃၇။ အမှန်သော်ကား "ညဉ့်" သည်လည်းကောင်း၊ "နေ့" သည်လည်းကောင်း၊ "နေ" သည်လည်းကောင်း၊ "လ" သည်လည်းကောင်း၊ ထိုအရှင်မြတ်၏ သက်သေ လက္ခဏာတော်တို့အနက်မှ ဖြစ်ကုန်၏။

(သို့ဖြစ်ပေရာ) အသင်တို့သည် "နေ" ကို လည်း "စဂျ်ဒဟ်" ပျပ်ဝပ်ဦးချ (ပူဇော်ဆည်းကပ်) ခြင်း မပြုကြကုန်လင့်။ ထိုနည်းတူစွာ အသင်တို့ သည် "လ"ကိုလည်း ပျပ်ဝပ်ဦးချ (ပူဇော်ဆည်းကပ်) ခြင်း မပြုကြကုန်လင့်။

➢➢ ခင်မင်ရင်းနှီးသော မိတ်ဆွေရင်းခြာပင် ဖြစ်လာနိုင်ပေသည်။ ဤကား အဆိုးကို အကောင်းနှင့် တုံ့ပြန်ခြင်း၏ အကျိုးပင်။ကြည့်-ကုရ်အာန် (၆၀း၇)။ ဤသည့်အချက်ကို အထူးသဖြင့် တမန်တော်မြတ်၏ ထေရပွတ္တိတွင် လယ်ပြင်မှာ ဆင်သွားသည့်အလား အထင်အရှား တွေ့ရပေမည်။

သို့ရာတွင် ယင်းသက်သေ လက္ခဏာတော် (လေးပါး)ကို ဖန်ဆင်းတော်မူသောအလ္လာဟ်အရှင်မြတ် အားသာလျှင် "စဂျ်ဒဟ်" ပျပ်ဝပ် ဦးချလေကုန်။ အကယ်၍ အသင်တို့သည် အကယ်စင်စစ် ထို အရှင်မြတ်အားသာလျှင် ဆည်းကပ်ကိုးကွယ်သူများ ဖြစ်ကြလျှင်၊ ①

၃၈။ သို့ရာတွင် အကယ်၍ ၎င်းတို့သည် (ဤ အမိန့်တော်ကို လိုက်နာကျင့်သုံးခြင်းမရှိဘဲ) မာန်မာန ထောင်လွှားခဲ့ကြလျှင်၊ အသင့်အား ဖန်ဆင်းမွေးမြူ တော်မူသောအရှင်မြတ်၏ထံတော်ပါး၌ ရှိကြသော "မလာအိကဟ်" ကောင်းကင်တမန်တို့မူ နေ့ရောညဉ့်ပါ ထိုအရှင်မြတ်စင်ကြယ် သန့်ရှင်းတော်မူကြောင်းကို မြွက်ဆိုလျက်ရှိကြကုန်၏။ ထိုမှတစ်ပါး ၎င်းတို့သည် ငြီးငွေ့ကြသည်ပင် မဟုတ်ပေ။

فَإِنِ اسْتَكْبَرُوا فَالَّذِينَ عِندَ رَبِّكَ يُسَبِّحُونَ لَهُ بِالَّيْلِ وَالنَّهَارِ وَهُمْ لَا يَسْـَٔمُونَ ۩ ٣٨

① အထက်တွင် အလ္လာဟ်အရှင်မြတ်ဘက်တော်သို့ ဖိတ်ခေါ်မှုအကြောင်း ပါရှိ၏။ ဤအာယတ်တော်များတွင် ယင်းသို့ အလ္လာဟ်အရှင်မြတ် ဘက်တော်သို့ ဖိတ်ခေါ်ရာ၌ အလ္လာဟ်အရှင်မြတ် တပါးတည်း တည်ရှိတော်မူကြောင်း၊ ထိုအရှင်မြတ်သည် တန်ခိုးတော်အနန္တ၊ ဥာဏ်တော်အနန္တရှင် ဖြစ်တော်မူကြောင်း၊ သေပြီးနောက် ရှင်ပြန်ထကြရမည့်အကြောင်းများကို တင်ပြရာတွင် အထောက်အကူဖြစ်စေရန် အလို့ငှာ အလ္လာဟ်အရှင်မြတ်၏ အချို့သက်သေ လက္ခဏာတော်များကို မိန့်ဆိုထားတော်မူသည်။ ဤသို့ မိန့်ဆိုထားတော်မူခြင်းမှာ တဖက်တွင် တမန်တော်များနှင့် မုအ်မင်န် သူတော်စင်များသည် ဝစီကံအားဖြင့်လည်းကောင်း၊ ကာယကံအားဖြင့်လည်းကောင်း လူသားတို့အား အလ္လာဟ်အရှင်မြတ်ဘက်တော်သို့ ဖိတ်ခေါ်လျက်ရှိကြောင်းနှင့် အခြားတဖက်တွင် မိုး၊ မြေ၊ နေ၊ လစသည့် ကမ္ဘာ့တန်ဆာပလာများ၏ စနစ်တကျ လှုပ်ရှားသွားလာ ရပ်တည်နေမှုများသည်လည်း တွေးဆဆင်ခြင် မြော်မြင်သူတို့အား အလ္လာဟ်အရှင်မြတ် ဘက်တော်သို့ ပင့်ဖိတ်ခေါ်လျက်ရှိကြောင်းကို ရည်ညွှန်း ပြထားတော် မူခြင်းပင်ဖြစ်သည်။ သို့ဖြစ်ရာ လူသားတို့သည် အလ္လာဟ်အရှင်မြတ်၏ သက်သေလက္ခဏာတော် များကို စဉ်းစားဆင်ခြင်မြော်မြင်၍ မိုး၊မြေ၊နေ၊လနှင့်တကွ ကမ္ဘာစကြာဝဠာကြီးကို စတင်ဖန်ဆင်း စီမံကွပ်ကဲ ထားတော်မူသော တန်ခိုးတော် အနန္တရှင်၊ ဥာဏ်တော်အနန္တရှင် အားသာလျှင် ဆည်းကပ်ကိုးကွယ်ကြရာသည်။

မိုး၊မြေ၊နေ၊လ စသည်တို့သည် ကိုးကွယ်ရာများမဟုတ်၊ ယင်းတို့ကို စတင်ဖန်ဆင်းတော်မူသော အလ္လာဟ်အရှင်မြတ်သည်သာလျှင် ကိုးကွယ်ရာဖြစ်တော်မူသည်။ မိုး၊မြေ၊နေ၊လ စသည်တို့သည် အခြား အဖန်ဆင်းခံများကဲ့သို့ လူသားတို့ အကျိုးငှာ အလ္လာဟ်အရှင်မြတ် ဖန်ဆင်းထားတော်မူသော အဖန်ဆင်းခံများသာ ဖြစ်သည်။ အဖန်ဆင်းခံများတွင် လူသားသည် အမြတ်ဆုံးဖြစ်ပေရာ မိမိအကျိုးအတွက် ဖန်ဆင်းထားသော ➤➤

وَمِنْ اٰيٰتِهٖٓ اَنَّكَ تَرَى الْاَرْضَ خَاشِعَةً فَاِذَآ اَنْزَلْنَا عَلَيْهَا الْمَآءَ اهْتَزَّتْ وَرَبَتْ ؕ اِنَّ الَّذِيْٓ اَحْيَاهَا لَمُحْيِ الْمَوْتٰى ؕ اِنَّهٗ عَلٰى كُلِّ شَيْءٍ قَدِيْرٌ ﴿٣٩﴾

၃၉။ ထိုမှတစ်ပါး (ဤသည်လည်း) ထိုအရှင်မြတ်၏ သက်သေ လက္ခဏာတော်တို့ အနက်မှပင်ဖြစ်၏။ အသင်သည် ပထဝီမြေကို အခြေအနေညံ့ဖျင်းစွာ တွေ့မြင်ရ၏။ ထို့နောက် ငါအရှင်မြတ်သည် ပထဝီမြေ၏ အပေါ်၌ ရေကို ရွာသွန်းစေတော်မူသောအခါ၊ ယင်း ပထဝီမြေမှာ တိုးတက်ထွန်းကား စိမ်းစို၍လည်း ကောင်း၊ (သစ်ပင် အစရှိသည်တို့) ပေါက်ရောက် ဖွံ့ဖြိုး၍လည်းကောင်း၊ လာလေသည်။

(သို့ဖြစ်ပေရာ) ဧကန်မလွဲ ယင်းပထဝီမြေကို ရှင်စေတော်မူသော အရှင်မြတ်သည်ပင်လျှင် ဧကန် အမှန် သူသေတို့အား ရှင်စေတော်မူမည့်အရှင် ဖြစ်တော်မူ၏။ ဧကန်စင်စစ် ထိုအရှင်မြတ်သည် အရာ ခပ်သိမ်းတို့ကို စွမ်းနိုင်တော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

اِنَّ الَّذِيْنَ يُلْحِدُوْنَ فِيْٓ اٰيٰتِنَا لَا يَخْفَوْنَ عَلَيْنَا ؕ اَفَمَنْ يُّلْقٰى فِي النَّارِ خَيْرٌ اَمْ مَّنْ يَّاْتِيْٓ اٰمِنًا يَّوْمَ الْقِيٰمَةِ ؕ اِعْمَلُوْا مَا شِئْتُمْ ۙ اِنَّهٗ بِمَا تَعْمَلُوْنَ بَصِيْرٌ ﴿٤٠﴾

၄၀။ ဧကန်စင်စစ် ငါအရှင်မြတ်၏ အာယတ်တော် များနှင့်စပ်လျဉ်း၍ မှုရင်းအဓိပ္ပာယ်မှ သွေဖည်ကာ အမှားမှား အယွင်းယွင်း ကောက်ယူကြသောသူတို့မှာ ငါအရှင်မြတ်အပေါ်၌ ဖုံးကွယ်၍ နေကြသည်မဟုတ် ပေ။

သို့ဖြစ်ပေရာ ငရဲမီးထဲ၌ ပစ်ချခြင်းခံရအံ့သော သူသည် ပို၍ မြင့်မြတ်လေသလော။ သို့တည်းမဟုတ် "ကိယာမတ်" ရှင်ပြန်ထမည့်နေ့တွင် ပူပင်သောက ကင်းစွာ လာရောက်အံ့သောသူသည် ပို၍ မြင့်မြတ် လေသလော။

---

➤➤ မိမိထက် နိမ့်ကျသောအရာများကို အသို့လျှင် ကိုးကွယ်အပ်သနည်း။ သခင်ဖြစ်ပါလျက် မိမိ၏ဘဝကိုမေ့ကာ မိမိ၏ကျွန်ကိုပင် ကိုးကွယ်ပါက မိမိ၏သိက္ခာကို မိမိကိုယ်တိုင်ချခြင်းပင်။

အသင်တို့သည် မိမိတို့ အလိုရှိရာကို ကျင့်မူကြလေကုန်။ ဧကန်မလွဲ ထိုအရှင်မြတ်သည် အသင်တို့ ကျင့်မူသမျှကို အကြွင်းမဲ့မြင်တော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူ၏။ ၁

إِنَّ الَّذِينَ كَفَرُوا بِالذِّكْرِ لَمَّا جَاءَهُمْ ۖ وَإِنَّهُ لَكِتَابٌ عَزِيزٌ ﴿٤١﴾

၄၁။ စင်စစ်ဧကန် အကြင်သူတို့သည် (ဤ)ဆုံးမသြဝါဒ(ကျမ်း)ကို ယင်း ဆုံးမသြဝါဒ(ကျမ်း)သည် ၎င်းတို့ထံ ရောက်ရှိ၍လာသောအခါ ငြင်းပယ်ကြကုန်၏။ (ငါအရှင်မြတ်သည် ၎င်းတို့အား အပြစ်ပေးတော်မူမည်။) အမှန်စင်စစ်သော်ကား ယင်းသည် မြင့်မြတ်လှစွာသော ကျမ်းဂန်ပင် ဖြစ်ပေသည်။

---

(၁) အလ္လာဟ်အရှင်မြတ်ဘက်တော်သို့ ဖိတ်ခေါ်ကြကုန်သော သူတော်စင်များထံမှ ကောင်းကင်ကျကျမ်းဂန်လာ ဒေသနာတော်များကို ကြားနာပြီး စကြာဝဠာအဝန်း၌ ပျံ့နှံ့လျက်ရှိသော အလ္လာဟ်အရှင်မြတ်၏ သဘာဝသက်သေလက္ခဏာတော်များကို တွေ့မြင်ရပြီး နောက်သော်မှပင် အချို့သူများသည် ဖြောင့်မတ်သော တရားလမ်းစဉ်ကို ဖြောင့်မတ်တည်ကြည်စွာ မလိုက်နာကြပေ။ ဖြောင့်မတ်မှန်ကန်သော စကားများတွင်ပင် အဓိပ္ပာယ်မရှိသော၊ အချည်းနှီးသော သို့လောသို့လော ဒွိဟသံသယမှုများ လုပ်ကြံဖန်တီးကြ၏။အဖြောင့်ကို အကောက်၊ အတည့်ကို အစောင်းဖြစ်စေရန် ကြံစည်အားထုတ်ကြ၏။ အနက်အဓိပ္ပာယ် ရှင်းလင်းပြတ်သားသော ဒေသနာတော်များကိုပင် မူရင်းအနက်အဓိပ္ပာယ်မှ တိမ်းစောင်းမှောက်မှားသွားစေရန် အမှားမှားအယွင်းယွင်း အနက်ကောက်ကြ၏။ အဓိပ္ပာယ်ကင်းမဲ့သော၊ မမှန်ကန်သော အကြောင်းအမျိုးမျိုးပြကာ ဒေသနာတော်များကို နာခံခြင်းမှ သွေဖည်ကြ၏။ အမှန်မှာ ၎င်းတို့၏ စိတ်နေသဘောထားသည်ပင် မဖြူစင်ပေ၊ မဖြောင့်မတ်ပေ။ ကွေ့ကောက်လျက်ရှိ၏။ တိမ်းစောင်းလျက်ရှိ၏။ ထိုသို့သော သွေဖည်ရေးသမားများကို အလ္လာဟ်အရှင်မြတ်သည် ကောင်းစွာသိတော်မူသည်။ ယင်းသွေဖည်ရေးသမားများသည် မိမိတို့၏ ထင်မြင်ယူဆချက်အရ ငါတို့သည် လွန်စွာလိမ္မာပါးနပ်ကြသည်။ ငါတို့၏အကြံအစည်သည် လွန်စွာပိရိလှသည်ဟု ငါတကော ကောကောင်းကော နေကြပေမည်။ မိမိတို့ကိုယ်ကို မိမိတို့ အထင်ကြီးကောင်း ကြီးနေကြပေမည်။ သို့ရာတွင် ၎င်းတို့ တွေးတောကြံစည် ပြုမူကြသည်များကိုမူ အလ္လာဟ်အရှင်မြတ်သည် ကြွင်းမဲ့ဥဿုံအလုံးစုံ သိတော်မူသည်။ ထိုအရှင်မြတ်သည် ၎င်းတို့အား ခေတ္တလျစ်လျူရှုထားတော် မူခြင်းသာဖြစ်သည်။ မကြာမီအတွင်း ၎င်းတို့သည် မိမိတို့ သွေဖည်တိမ်းစောင်း မှောက်မှားခဲ့ကြသည်များ၏ ပြစ်ဒဏ်ကို လုလုကြီး ခံကြရပေမည်။ ငရဲတွင် ပစ်ချခြင်း ခံကြရပေမည်။ ပုဂ္ဂိုလ်တစ်ဦးသည် ကိယာမတ်နေ့တွင် မိမိ၏ သွေဖည်မှု၊ ဆိုးသွမ်းမှု၊ ကောက်ကျစ်စဉ်းလဲမှု များကြောင့် ငရဲလားရမည့် အခြားတစ်ဦးသည် မိမိ၏ သဘောဖြူအူစင်းမှု၊ ရိုးသားဖြောင့်မတ်မှု၊ အမိန့်နာခံမှု၊ အကျင့်သီလ ကောင်းမြတ်မှုတို့ကြောင့် ဘေးမသီ၊ ရန်မခဘဲ ဂျန္နတ်၏ အမတသုခကို ထာဝရ ခံစားရမည်။ ထိုသူနှစ်ဦးအနက် မည်သူကောင်းသည်၊ မည်သူ၏လမ်းစဉ်ကို လိုက်နာကျင့်မူအပ်သည်ကို ယင်းကာဖိရ်များ စဉ်းစားဆုံးဖြတ်ကြရပေမည်။

لَا يَأْتِيهِ الْبَاطِلُ مِنْ بَيْنِ يَدَيْهِ
وَلَا مِنْ خَلْفِهٖ ؕ تَنْزِيلٌ مِّنْ
حَكِيمٍ حَمِيدٍ ٤٢

၄၂။ အမှားသည် ယင်းကျမ်းမြတ်တွင် ၎င်း၏ရှေ့မှလည်း လာရောက်စွက်ဖက်နိုင်ခြင်း မရှိချေ။ ၎င်း၏နောက်လည်း လာရောက်စွက်ဖက်နိုင်ခြင်းမရှိပေ။ ဤကျမ်းမြတ်မှာ ဆင်ခြင်တုံတရားနှင့် ပြည့်စုံတော်မူသော ချီးမွမ်းထောပနာကို ခံယူထိုက်တော်မူသောအရှင်မြတ် အထံတော်မှ ချပေးတော်မူသော ကျမ်းမြတ်ပင် ဖြစ်ပေသည်။ [၁]

مَا يُقَالُ لَكَ إِلَّا مَا قَدْ قِيلَ
لِلرُّسُلِ مِنْ قَبْلِكَ ؕ إِنَّ رَبَّكَ
لَذُو مَغْفِرَةٍ وَّذُو عِقَابٍ أَلِيمٍ ٤٣

၄၃။ အသင့်အလျှင် ပွင့်ကြလေကုန်သော ရဆူလ်တမန်တော်များ ပြောဆို(စွပ်စွဲ)ခြင်း ခံခဲ့ကြရသည့်အတိုင်းပင် အသင်လည်း ပြောဆို (စွပ်စွဲ)ခြင်းကို ခံရ၏။ ဧကန်မလွဲ အသင့်အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်သည် အမှန်ပင် လွတ်ငြိမ်းချမ်းသာခွင့်ကို ပိုင်ဆိုင်တော်မူသောအရှင်၊ ပြင်းပြနာကျင်ဖွယ်ဖြစ်သောပြစ်ဒဏ်ကို ပိုင်ဆိုင်တော်မူသောအရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

وَلَوْ جَعَلْنٰهُ قُرْاٰنًا أَعْجَمِيًّا
لَّقَالُوا لَوْلَا فُصِّلَتْ اٰيٰتُهٗ ؕ
ءَاَعْجَمِيٌّ وَّعَرَبِيٌّ ؕ قُلْ
هُوَ لِلَّذِينَ اٰمَنُوا هُدًى

၄၄။ စင်စစ်သော်ကား အကယ်၍သာ ငါအရှင်မြတ်သည် ယင်းကျမ်းမြတ်ကို အရဗီဘာသာစကား မဟုတ်သော လူမျိုးခြား ဘာသာစကားဖြင့် (ကျရောက်သော) ကုရ်အာန် ကျမ်းတော်မြတ်အဖြစ် ထုတ်ပြန်တော်မူခဲ့ပါလျှင် အမှန်ပင် ၎င်းတို့က ယင်းကုရ်အာန်ကျမ်းတော်မြတ်၏အာယတ်တော်များသည် မည်သည့်အတွက်ကြောင့် ရှင်းလင်းစွာ ဖော်ပြထားခြင်း မရှိပါသနည်း။

(၁) ကုရ်အာန်ကျမ်းမြတ်သည် ဉာဏ်တော်အနန္တနှင့် ပြည့်စုံတော်မူသော၊ ချီးမွမ်းထောပနာမူအစစ်ကို ခံထိုက်တော်မူသော အလ္လာဟ်အရှင်မြတ်ထံတော်မှ ထုတ်ပြန်ချမှတ်ထားတော်မူသော ကျမ်းဂန်ဓမ္မက္ခန်ဖြစ်သည်။ ယင်းကျမ်းဂန်ကို ထိန်းသိမ်းရန် မိမိကိုယ်တော်တိုင် တာဝန်ယူထားတော်မူသည်။ ထိုကျမ်းဂန်တွင် မည်သူမျှ၊ မည်သို့မျှ၊ မည်သည့်ဘက်ကမျှ နုတ်ပယ် ဖြည့်စွက်နိုင်သည်မရှိ။ အမှားအယွင်းသည် ထိုကျမ်းဂန်၌ရှိရန်ဝေးစွ၊ ထိုကျမ်းဂန်၏အနီးသို့ပင် မချဉ်းကပ်နိုင်ပေ။ သို့ပါလျက် ကာဖိရ်များသည် ယင်းသို့သော ကျမ်းဂန်ကိုပင် ငြင်းပယ်ကြ၏။ ဤကား ၎င်းတို့၏ မိုက်မဲမှုပင်။

وَشِفَآءٌ ۖ وَالَّذِينَ لَا يُؤْمِنُونَ فِىٓ ءَاذَانِهِمْ وَقْرٌ وَهُوَ عَلَيْهِمْ عَمًى ۚ أُولَٰٓئِكَ يُنَادَوْنَ مِن مَّكَانٍۭ بَعِيدٍ ﴿٤٤﴾

"ရုရှူလ်"တမန်တော်သည် 'အရဗ်'အမျိုးသား ဖြစ်ပြီး (ကုရ်အာန်ကျမ်းတော်မြတ်သည်) လူမျိုးခြား ဘာသာစကားဖြင့် ကျရောက်လာသည်လော ဟူ၍ ပြောဆိုခဲ့ကြမည်သာ။ (အို-နဗီတမန်တော်) အသင် သည် ပြောကြားပါလေ။ (အချင်းတို့၊) ယင်းကုရ်အာန် ကျမ်းတော်မြတ်သည် မုအ်မင်န် သက်ဝင်ယုံကြည် သူတို့အဖို့ တရားလမ်းညွှန်နှင့် ရောဂါဝေဒနာ ပျောက် ကင်းစေသောဆေးပင် ဖြစ်ပေသည်။

သို့ရာတွင် သက်ဝင်ယုံကြည်ခြင်းမရှိကြသော သူတို့၏နားများ၌မူကား နားပင်းမှု ဝေဒနာသည် ရှိနေပေရာ ယင်း ကုရ်အာန်ကျမ်းတော်မြတ်မှာလည်း ၎င်းတို့နှင့် ပတ်သက်၍ မျက်မမြင်(မမြင်ဖွယ်ရာ မထင်မရှား) ဖြစ်နေချေသည်။ ၎င်းတို့မှာ ရပ်ဝေးမှ ဟစ်ခေါ်ခြင်းခံကြရသူများပင် ဖြစ်ကြကုန်၏။ [၁]

---

(၁) အပြစ်ပင် ရှာလိုသူတစ်ဦးရှေ့၌ အကြောင်းပြခြင်းသည် အချည်းအနှီးပင်။ မနာခံလိုသူတစ်ဦးသည် ဆင်ခြေအမျိုးမျိုးလဲမည်ပင်။ မက္ကာမြို့သား ကာဖိရ်များသည် ကုရ်အာန်ကျမ်းမြတ်နှင့် စပ်လျဉ်း၍ တစ်စုံတစ်ရာ အပြစ်ရှာ၍ မရသည့်အဆုံး၌ တမန်တော်မြတ်သည် အရဗ် အမျိုးသားတစ်ဦးဖြစ်နေသဖြင့် တမန်တော်မြတ်အပေါ်၌ ကျရောက်သောကျမ်းသည် အရဗ်ဘာသာစကားဖြင့် မဟုတ်ဘဲ လူမျိုးခြားဘာသာစကားဖြင့် ကျရောက်ပါက တမန်တော်မြတ်၏ 'မုအ်ဂျိဇဟ်' တန်ခိုးပြာဋိဟာသည် ပိုမို၍ ထင်ရှားလာပေမည်ဟု ပြောဆိုခဲ့ကြ၏။ ကြက်တွန် တက်ခဲ့ကြ၏။ ဤသည် အခြေအမြစ်မရှိသောစကားပင်၊ ဆင်ခြေ့ရန်ရှောင်စကားပင်။

အကယ်၍သာ ကုရ်အာန်ကျမ်းမြတ်သည် အရဗ်ဘာသာစကားမဟုတ်သော အခြားဘာသာစကားဖြင့် ဖြစ်ပါသော် ယင်းကာဖိရ်များသည် သွေဖည် ငြင်းဆန်ရန်အတွက် တမန်တော်မြတ်သည် အရဗ် လူမျိုး၊ ကုရ်အာန်ကို ဦးစွာပထမ ကြားနာရသော ကျွန်ုပ်တို့သည်လည်း အရဗ်လူမျိုး၊ ကျရောက်လာသောကျမ်း၏ ဘာသာစကားမှာ အရဗ်ဘာသာစကားမဟုတ်၊ လူမျိုးခြားစကားဖြစ်နေသည်။ ကျွန်ုပ်တို့သည် လူမျိုးခြား ဘာသာစကား တစ်လုံးတစ်ပါဒမျှ နားမလည်ကြပါဟူ၍ ဆင်ခြေလဲကြဦးမည်ပင်ဖြစ်သည်။

တမန်တော်မြတ်သည် အရဗ်လူမျိုးဖြစ်တော်မူသည်။ တမန်တော်မြတ် စတင်ဟောကြားရမည့် အမျိုးသားများမှာလည်း အရဗ်လူမျိုးဖြစ်သည်။ အရဗ် စာပေသည်လည်း စံမတူအောင် စာပေဂုဏ်မြောက်လှသည်။ ပွင့်လေသမျှသော တမန်တော်များသည်လည်း သက်ဆိုင်ရာမျိုးနွယ်မှပင် ဖြစ်ခဲ့ကြသည်။ သက်ဆိုင်ရာမျိုးနွယ်၏ စကားကိုပင် ပြောဆိုခဲ့ကြသည်။ ကျရောက်ခဲ့သမျှသော ကောင်းကင်ကျ ကျမ်းဂန်များမှာလည်း ဤအတိုင်းပင်။ သို့ဖြစ်ပေရာ စတင်ဟောကြားရမည့် အရဗ်အမျိုးသားများထံသို့ စတင်ပွင့်လာတော်မူခဲ့သော အရဗ်အမျိုးသား ➤➤

وَلَقَدۡ اٰتَيۡنَا مُوۡسَى الۡكِتٰبَ فَاخۡتُلِفَ فِيۡهِؕ وَلَوۡلَا كَلِمَةٌ سَبَقَتۡ مِنۡ رَّبِّكَ لَقُضِىَ بَيۡنَهُمۡؕ وَاِنَّهُمۡ لَفِىۡ شَكٍّ مِّنۡهُ مُرِيۡبٍ ﴿۴۵﴾

၄၅။ ထိုမှတစ်ပါး မလွဲဧကန် ငါအရှင်မြတ်သည် (နဗီတမန်တော်) မူစာအားလည်း ကျမ်းဂန်ဒေသနာတော်ကို ချီးမြှင့်ပေးသနားတော်မူခဲ့၏။ သို့တစေလည်း ယင်းကျမ်းဂန်နှင့်စပ်လျဉ်း၍လည်း သဘောကွဲလွဲမှု ဖြစ်ခဲ့ရလေသည်။

အမှန်စင်စစ်သော်ကား အကယ်၍သာ အသင့်အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်အထံတော်မှ အမိန့်တော်တစ်ရပ်သည် ရှိနှင့်ပြီး မဖြစ်ခဲ့ပါလျှင် အမှန်ပင် ၎င်းတို့၏အကြား၌ စီရင်ဆုံးဖြတ်ပြီး ဖြစ်ခဲ့မည်သာ။ ထို့ပြင် ဧကန်အမှန် ၎င်းတို့သည် ယင်းအဆုံးအဖြတ် (ဝါ)ချိန်းချက်ထားသောပြစ်ဒဏ်နှင့်စပ်လျဉ်း၍ ဝိစိကိစ္ဆာ ဖြစ်စေသော ဒွိဟသံသယ၌ပင် ရှိနေကြကုန်သတည်း။

---

➤➤ ဖြစ်သော တမန်တော်မြတ်အပေါ်သို့ အရဗ် ဘာသာစာပေဖြင့် ကုရ်အာန်ကျမ်းမြတ်ကို ထုတ်ပြန်ပို့ချတော်မူခြင်းမှာ လျော်ကန်သင့်မြတ်လှပေသည်။ သဘာဝကျလှပေသည်။

အမှန်မှာ ကုရ်အာန်ကျမ်းမြတ်သည် မိမိအပေါ်၌ (အီမာန်) သက်ဝင်ယုံကြည်၍ လက်တွေ့လိုက်နာကျင့်မှုသူများအား အံ့ဖွယ်သရဲ တရားဓမ္မတော် ညွှန်ပြသည်။ အနှစ်နှစ်က စွဲငြိနေသော ဒွိဟသံသယတည်းဟူသော အတွင်းရောဂါများကိုလည်း ပျောက်ကင်းစေသည်။ ဤကား လက်တွေ့မျက်မြင်ပင်။ အမှန်တရားကို ကြားပင်မကြားလိုသော ကြည့်ပင်မကြည့်လိုသော မျက်ကန်းများ၊ နားပင်းများအဖို့မှာကား ကုရ်အာန်၏ အသံသည် အဘယ်မျှပင် သာယာကြည်နူးဖွယ် ဖြစ်လင့်ကစား ကုရ်အာန်၏ တရားဓမ္မ ရောင်ခြည်သည် အဘယ်မျှပင် ထွန်းလင်းတောက်ပလင့်ကစား ထူးမည် မဟုတ်ပေ။ ဤကား ကုရ်အာန်၏ အပြစ်မဟုတ်။ "ညဉ့်အခါမမြင် နေ့တွင်ဝိုးဝါး၊ ယုံမှားလှစ်တွင်၊ ကြက်မျက်သင့်သို့" သက်ဆိုင်ရာ အမှန်တရားကို မမြင်သော၊ မကြားသောသူများ၏ အပြစ်သာ ဖြစ်ချေသည်။ ၎င်းတို့သည် မိမိတို့၏ နားကိုကြားအောင်၊ မျက်စိကိုမြင်အောင် ကုစားကြရပေမည်။ ဤသည့်သဘောကို ကုရ်အာန် (၁၇း၈၂) တွင်လည်း မိန့်ဆိုထားတော်မူသည်။

مَنْ عَمِلَ صَالِحًا فَلِنَفْسِهٖ وَمَنْ اَسَآءَ فَعَلَيْهَا ؕ وَمَا رَبُّكَ بِظَلَّامٍ لِّلْعَبِيْدِ ﴿٤٦﴾

၄၆။ မည်သူမဆို ကောင်းမြတ်သောအကျင့်သီလကို ကျင့်မှုဆောက်တည်ပါလျှင် မိမိအကျိုးငှာ ကျင့်မှုဆောက်တည်ခြင်းပင် ဖြစ်ပေသည်။ ထိုနည်းတူစွာ မည်သူမဆို မကောင်းမှုကို ပြုလုပ်သည်ရှိသော် (ယင်းမကောင်းမှု၏ဆိုးကျိုးမှာ) ၎င်း၏အပေါ်၌သာ ကျရောက်မည်ဖြစ်၏။

အမှန်စင်စစ်သော်ကား အသင့်အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်သည် ကျွန်တို့အပေါ်ဝယ် နိုပ်စက်ကလူ ပြုတော်မူသောအရှင် မဟုတ်ပေတကား။[၁]

(၁) ကာဖိရ်များသည် အထောက်အထား၊ သက်သေလက္ခဏာများ အထင်အရှား ရှိနေပါလျက်နှင့်ပင် အဆိုပါအဆုံးအဖြတ် (ဝါ) ချိန်းချက်ထားတော်မူသော ပြစ်ဒဏ်နှင့်စပ်လျဉ်း၍ ယခုထက်တိုင် သံသယဖြစ်နေကြပေသေးသည်။ အမှန်မှာ အဆိုပါ ဆုံးဖြတ်ချက်မှာ မုချ အတည်ဖြစ်မည်ပင်။ အဆိုပါ ဆုံးဖြတ်ချက်၏အချုပ်မှာ မည်သူမဆို ကောင်းမြတ်သော အကျင့်သီလကို ဆောက်တည်ပါက မိမိအကျိုးငှာ ဆောက်တည်ခြင်းသာဖြစ်သည်။ နောင်တမလွန်ဘဝတွင် ကောင်းမြတ်သော ကုသိုလ်အကျိုးကို ခံစားရပေမည်။ မည်သူမဆို မကောင်းမှုကို ပြုကျင့်ပါမူ ထိုမကောင်း မှု၏ ဆိုးကျိုးကို ထိုသူသာလျှင် ခံစားရပေမည်။ အလ္လာဟ်အရှင်မြတ်သည် မည်သူ့ကိုမျှ မတရားပြုတော်မူသည်မရှိ။ ကောင်းသူအား ကောင်းကျိုး၊ မကောင်းသူအား မကောင်းကျိုးကို ပေးတော်မူ မည်သာ။ ကောင်းသူ၏ ကောင်းကျိုးလည်း အချည်းအနှီးဖြစ်စေတော် မူမည်မဟုတ်။ မကောင်းသူ၏ မကောင်းကျိုးကိုလည်း ပို၍ပေးတော်မူမည်မဟုတ်။ တရားသဖြင့် စီရင်ဆုံးဖြတ်တော်မူမည်သာ။

إِلَيْهِ يُرَدُّ عِلْمُ السَّاعَةِ ۚ وَمَا
تَخْرُجُ مِن ثَمَرَاتٍ مِّنْ
أَكْمَامِهَا وَمَا تَحْمِلُ مِنْ أُنثَىٰ
وَلَا تَضَعُ إِلَّا بِعِلْمِهِ ۚ وَيَوْمَ
يُنَادِيهِمْ أَيْنَ شُرَكَائِي قَالُوا
آذَنَّاكَ مَا مِنَّا مِن شَهِيدٍ ﴿٤٧﴾

၄၇။ "ကိယာမတ်" ရှင်ပြန်ထမည့် အချိန်ကာလနှင့် စပ်လျဉ်းသော အသိသည် *ထိုအရှင်မြတ်အထံတော်သို့ပင် လွှဲအပ်ရပေသည်။* [၁] ၎င်းပြင် မည်သည့် သစ်သီးဝလံများမဆို မိမိတို့၏(အဖူးဖုံးများမှ) (ထိုအရှင်မြတ်သိတော်မမူဘဲ) ထွက်ပေါ်လာသည် မဟုတ်ပေ။ ထိုမှတစ်ပါး မည်သည့် မိန်းမတစ်ဦးမျှပင် ထိုအရှင်မြတ်သိတော်မမူဘဲ ကိုယ်ဝန်ဆောင်ခြင်းလည်း မရှိပေ။ သားဖွားခြင်းလည်း မရှိချေ။

ထို့ပြင် အကြင်နေ့တွင် ထိုအရှင်မြတ်သည် ၎င်းတို့အား "ငါအရှင်မြတ်၏တွဲဖက်များသည် အဘယ်မှာနည်း" ဟု ဟစ်ခေါ် မေးမြန်းတော်မူသောအခါ ၎င်းတို့က "(ယနေ့) ကျွန်တော်မျိုးအနက်(ဤသည်နှင့်စပ်လျဉ်း၍) သက်သေခံအံ့သောသူဟူ၍ တစ်ဦးတစ်ယောက်မျှမရှိတော့သည်ကို ကျွန်တော်မျိုးသည် အရှင်မြတ်အထံတော်၌ *ဖြောင့်ချက်ဝန်ခံ လျှောက်ထားကြပါသည်၊*" [၂] ဟု ပြောဆိုကြပေမည်။

---

(၁) အထက်တွင် ကောင်းကျိုး၊ဆိုးကျိုးများကို နောင်တမလွန်ဘဝ၌ အတိအကျ ခံ၊ စံကြရမည့်အကြောင်း ပါရှိခဲ့၏။ ယခု ဤအာယတ်တော်တွင် ကိယာမတ်နှင့် စပ်လျဉ်းသည့် အသိသည် အလ္လာဟ်အရှင်မြတ်၌သာ ရှိကြောင်းကို မိန့်ဆိုထားတော်မူသည်။

ကာဖိရ်များက ငြင်းပယ်သည့်သဘောဖြင့် ကိယာမတ်သည် ဘယ်သောအခါဖြစ်မည်နည်းဟု မေးမြန်းလေ့ရှိခဲ့ကြသည်။ ယင်းသို့သော ကာဖိရ်များအား ရည်ညွှန်း၍ ဖြေကြားထားတော်မူသည်မှာ ကိယာမတ်သည် တစ်ရက်မုချဖြစ်မည်။ သို့ရာတွင် ကိယာမတ်ဖြစ်မည့်နေ့ရက်၊ အချိန်အတိအကျကိုမူ အလ္လာဟ်အရှင်မြတ်သာလျှင် သိတော်မူသည်။ ထိုအရှင်မြတ်မှတစ်ပါး အခြားမည်သူ တစ်ဦးတစ်ယောက်မျှ အတိအကျမသိပေ။ ကောင်းကင်တမန် ဂျိဗ်ရီလ်က တမန်တော်မြတ်အား ကိယာမတ်ဖြစ်မည့် အချိန်နှင့်စပ်လျဉ်း၍ မေးမြန်းသောအခါ တမန်တော်မြတ်က (ما المسؤول عنها باعلم من السائل) "ကိယာမတ်ဖြစ်မည့်အချိန်နှင့် စပ်လျဉ်း၍ မေးမြန်းခြင်းခံရသောပုဂ္ဂိုလ်သည် မေးမြန်းသောပုဂ္ဂိုလ်ထက် ပို၍မသိပါ။ (ဝါ) ကိယာမတ်ဖြစ်မည့် အချိန်အတိအကျကို ကျွန်ုပ်လည်း မသိ၊ အသင်လည်း မသိ"ဟု ဖြေကြားတော်မူခဲ့လေသည်။ ကြည့်-(မစ်ရှ်ကာတ်)။

လူ့လောကတွင် လူသားတို့မသိသောအရာ အမြောက်အမြားရှိပေသည်။ အရာတစ်ခုနှင့်စပ်လျဉ်း၍ မိမိမသိသည့်အတွက် ထိုအရာသည်မရှိဟူ၍ မဆိုနိုင်ချေ။ ➤➤

وَضَلَّ عَنْهُمْ مَّا كَانُوْا يَدْعُوْنَ مِنْ قَبْلُ وَظَنُّوْا مَا لَهُمْ مِّنْ مَّحِيْصٍ ﴿٤٨﴾

၄၈။ စင်စစ်သော်ကား (ထိုနေ့တွင်) ၎င်းတို့ ယခင်က ဟစ်ခေါ်တသ (ရှိခိုးပူဇော်)ခဲ့ကြသည်တို့မှာ ၎င်းတို့ထံမှ ပျောက်ကွယ်၍ သွားကြပေမည်။ ထိုမှတစ်ပါး ၎င်းတို့သည် မိမိတို့၌ ထွက်ပြေး(လွတ်မြောက်)ရာဟူ၍လည်း မရှိတော့ကြောင်း ယုံကြည်သွားကြပေမည်။

لَا يَسْـَٔمُ الْاِنْسَانُ مِنْ دُعَآءِ الْخَيْرِ وَاِنْ مَّسَّهُ الشَّرُّ فَيَـُٔوْسٌ قَنُوْطٌ ﴿٤٩﴾

၄၉။ လူသားသည် ကောင်းကျိုး ချမ်းသာကို တောင်းဆိုခြင်းမှ ငြီးငွေ့သည်ဟူ၍ မရှိပေ။ [၁] သို့ရာတွင် အကယ်၍ ၎င်း၌ ဘေးအန္တရာယ်တစ်စုံတစ်ရာ သက်ရောက်ခဲ့သည်ရှိသော် ထိုအခါ (၎င်းမှာ) စိတ်အားလျှော့သူ၊ မျှော်လင့်ချက်လုံးဝကင်းသူ ဖြစ်လာလေ၏။

---

➢➢ ကိယာမတ်အကြောင်း အကြိမ်ကြိမ်ပါရှိခဲ့ပေပြီ။ ကြည့်-ကုရ်အာန်(၇း၁၈၇။ ၁၅း၈၅။ ၁၈း၂၁။ ၂၀း၁၅။ ၂၂း၁။ ၂၂း၇။ ၃၁း၃၄။ ၃၃း၆၃။ ၃၄း၂၉-၃၀။ ၄၀း၅၉)။

(၂) ကိယာမတ်နေ့တွင် အလ္လာဟ်အရှင်မြတ်က မုရှ်ရစ်က်တို့အား လူ့လောကတွင် ငါအရှင်မြတ်နှင့်တွဲဖက်၍ အသင်တို့ဆည်းကပ် ကိုးကွယ်နေခဲ့ကြသော ငါ၏တွဲဖက်များ အဘယ်မှာနည်းဟု မေးမြန်းတော်မူပေမည်။ ထိုအခါ မုရှ်ရစ်က်များက ကျွန်တော်မျိုးတို့တွင် ဤပြစ်မှုကို မိမိကျူးလွန်ခဲ့ပါသည်ဟု ဝန်ခံဖြောင့်ချက်ပေးမည့်သူ တစ်ဦးတစ်ယောက်မျှ မရှိပါဟု မုသားလိမ်လည်လျှောက်ထား ကြပေမည်။

[မုရှ်ရစ်က်များသည် ကိယာမတ်နေ့တွင် မိမိတို့၏အပြစ်များကို အသို့လျှင် ဖုံးကွယ်ထားနိုင်ကြအံ့နည်း။ ၎င်းတို့၏နှုတ်များက လိမ်လည်ထွက်ဆိုသော်လည်း ၎င်းတို့၏ ကျန်ကိုယ်အင်္ဂါ အစိတ်အပိုင်းများကမူ ဟုတ်မှန်ရာကို ထွက်ဆိုကြမည်သာဖြစ်သည်။ ကြည့်-ကုရ်အာန်(၄၁း၂၀-၂၂)]။

(၁) ဤအာယတ်တော်တွင်ပါရှိသော (အင်န်စာန်) လူသားဟူသည် ကာဖိရ်ကို ဆိုလိုသည်။ ကြည့်-မာဂျိဒီ၊ ထာနဝီ၊ ကုရ်တုဗီ၊ မအာလင်မ်။

(ကုဖ်ရ်) သွေဖည်ငြင်းပယ်မှု၊ (ရှရစ်က်) တွဲဖက်ကိုးကွယ်မှုများသည် သက်ဆိုင်ရာ ကာဖိရ်၊ မုရှ်ရစ်က်များ၏ စိတ်နေသဘောထားနှင့် အကျင့်အမူများတွင် ယုတ်မာသော လက္ခဏာများကို ပေါ်လွင်ထင်ရှားလာစေပေသည်။ ဤသည့်သဘောကိုပင် ဤအာယတ်တော်များတွင် မိန့်ဆိုထားတော်မူသည်။

ကာဖိရ်သည် အလ္လာဟ်အရှင်မြတ်အား မယုံကြည်ပေရာ၊ ကိယာမတ်ကို မယုံကြည်ပေရာ မျက်မှောက်ဘဝကိုသာ အဓိကထားကာ လောကီရေးရာများတွင် အနစ်မွန်းကြီးနစ်မွန်း၍ နေပေသည်။ လောကီရေးရာများတွင် အဘယ်မျှပင် တိုးတက်ကြီးပွားနေလင့်ကစား မိမိ၏လောဘကို မသတ်နိုင်ပေ။ မိမိ၏စိတ်ကို မချုပ်တည်းနိုင်ပေ။ တိုး၍တိုး၍သာ ကြီးပွားလိုသည်။ ကမ္ဘာ့အိမ်ထောင်စုကြီး တစ်ခုလုံးကိုပင် ဖြစ်နိုင်ပါက ပိုင်ဆိုင်လိုသည်။ ဤကား ကာဖိရ်၏ အတောမသတ် လောဘကြီးမှုပင်။

وَلَئِنْ أَذَقْنَاهُ رَحْمَةً مِّنَّا مِنْ
بَعْدِ ضَرَّاءَ مَسَّتْهُ لَيَقُولَنَّ
هَٰذَا لِي وَمَا أَظُنُّ السَّاعَةَ
قَائِمَةً وَلَئِن رُّجِعْتُ إِلَىٰ
رَبِّي إِنَّ لِي عِندَهُ لَلْحُسْنَىٰ ۚ
فَلَنُنَبِّئَنَّ الَّذِينَ كَفَرُوا بِمَا
عَمِلُوا وَلَنُذِيقَنَّهُم مِّنْ
عَذَابٍ غَلِيظٍ ﴿٥٠﴾

၅၀။ သို့တစေလည်း ၎င်း၌သက်ရောက်ခဲ့သော ဘေးဒုက္ခတစ်စုံတစ်ရာ၏နောက်တွင် ငါအရှင်မြတ်သည် ၎င်းအား မိမိကရုဏာတော်(၏ အရသာ)ကို မြည်းစမ်းစေတော်မူခဲ့ပါလျှင် ဧကန်အမှန် ၎င်းသည် (ဤသို့)ပြောဆိုလေတော့၏။ “ဤသည် ကျွန်ုပ်နှင့် ထိုက်သောကိစ္စပင် ဖြစ် သည်။ ၎င်းပြင် “ကိယာမတ်” ရှင်ပြန်ထမည့် အချိန်ကာလ ဆိုက်ရောက်မည်ဟု ကျွန်ုပ် မယူဆပေ။ သို့တစေလည်း ကျွန်ုပ်သည် အကယ်၍ ကျွန်ုပ်အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ် အထံတော်သို့ ပြန်သွားခဲ့ရသည့်တိုင်အောင် ဧကန်မလွဲ ကျွန်ုပ်အဖို့ ထိုအရှင်မြတ်အထံတော်တွင် သာ၍ ကောင်းသော အကျိုးကျေးဇူးသည် အမှန်ပင် ရှိချေမည်၊”

သို့ဖြစ်ပေရာ ဧကန်မလွဲ ငါအရှင်မြတ်သည် “ကာဖိရ်” သွေဖည် ငြင်းပယ်သောသူတို့အား ၎င်းတို့ ကျင့်မူခဲ့သမျှတို့ကို သိစေတော်မူပေသည်။ ထိုမှတစ်ပါး ဧကန်မုချ ငါအရှင်မြတ်သည် ၎င်းတို့အား ပြင်းထန်သောပြစ်ဒဏ်၏ရသာကို မြည်းစမ်းစေတော်မူပေမည်။

وَإِذَا أَنْعَمْنَا عَلَى الْإِنسَانِ
أَعْرَضَ وَنَأَىٰ بِجَانِبِهِ
وَإِذَا مَسَّهُ الشَّرُّ فَذُو دُعَاءٍ
عَرِيضٍ ﴿٥١﴾

၅၁။ စင်စစ်မှာကား ငါအရှင်မြတ်သည် လူသားတို့၏အပေါ်၌ ကျေးဇူးပြုတော်မူသောအခါ ၎င်းမှာ မျက်နှာလွှဲကာ အဝေးသို့ ရှောင်ဖယ်၍သွားလေ့ရှိ၏။ သို့တစေလည်း ၎င်း၌ ဘေးဒုက္ခသက်ရောက်သော အခါ (၎င်းမှာ) ကျယ်ဝန်းစွာ (တစ်နည်း) ရှည်လျားစွာ ဆုတောင်းပတ္ထနာ ပြုလေ့ရှိပေသတည်း။

قُلْ أَرَأَيْتُمْ إِن كَانَ مِنْ عِندِ
اللَّهِ ثُمَّ كَفَرْتُم بِهِ مَنْ أَضَلُّ

၅၂။ (အို-နဗီတမန်တော်) အသင်သည် ပြောကြားပါလေ။ (အချင်းတို့၊) အသင်တို့သည်ပင် ပြောပြကြလေကုန်။ အကယ်၍ ယင်း(ကုရ်အာန်ကျမ်းမြတ်)သည် အလ္လာဟ်အရှင်မြတ်အထံတော်မှ (ကျရောက်ခဲ့သည်)

مِمَّنْ هُوَ فِي شِقَاقٍ بَعِيدٍ ﴿٥٢﴾

ဖြစ်ခဲ့အံ့၊ ထို့နောက်တစ်ဖန် အသင်တို့သည် ယင်း (ကုရ်အာန်ကျမ်းတော်မြတ်)ကို ငြင်းပယ်ခဲ့ကြသည်ရှိအံ့၊ သို့ဖြစ်လျှင် ဝေးကွာလှသော ကွဲပြားမှု၌ ရှိနေသောသူ ထက် *ပိုမို၍လမ်းမှားသောသူ မည်သူရှိအံ့နည်း။* [၁]

سَنُرِيهِمْ آيَاتِنَا فِي الْآفَاقِ وَفِي أَنْفُسِهِمْ حَتَّىٰ يَتَبَيَّنَ لَهُمْ أَنَّهُ الْحَقُّ ۗ أَوَلَمْ يَكْفِ بِرَبِّكَ أَنَّهُ عَلَىٰ كُلِّ شَيْءٍ شَهِيدٌ ﴿٥٣﴾

၅၃။ မကြာမြင့်မီပင် ငါအရှင်မြတ်သည် ထိုသူတို့အား မိုးကုပ်စက်ဝိုင်းများ၌လည်းကောင်း၊ ထိုသူတို့၏ ကိုယ်များ၌လည်းကောင်း၊ မိမိသက်သေလက္ခဏာတော်များကို ပြတော်မူမည်။ နောက်ဆုံးတွင် ၎င်းတို့၌ ဧကန်စင်စစ် *ယင်း(ကုရ်အာန်ကျမ်းတော်မြတ်) မှန်ကန်ကြောင်း သိသာထင်ရှား၍ လာပေမည်။* [၂]

(အို-နဗီတမန်တော်၊) အသင့်အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်သည်ပင် (အသင့်အဖို့) လုံလောက်တော်မူသည် မဟုတ်လော။ ဧကန်မလွဲ ထိုအရှင်မြတ်သည် အရာခပ်သိမ်းတို့ကို မြင်တော်မူသော အသိသက်သေပင် ဖြစ်တော်မူ၏။

---

(၁) အထက်တွင် ကာဖိရ်များ၏ စိတ်နေသဘောထား သေးနုတ်သိမ်ဖျင်းပုံကို ကွင်းကွင်းကွက်ကွက် သရုပ်ပေါ်လာအောင် မိန့်ဆိုထားတော်မူသည်။ ယခု ဤအာယတ်တော်များတွင် ယင်းသို့သောကာဖိရ်များ၏ စိတ်နေသဘောထား သေးနုတ်သိမ်ဖျင်းပုံများကို ထောက်ပြပြီး၊ ၎င်းတို့အား သတိပေးနေသော ဤကုရ်အာန်ကျမ်းမြတ်နှင့် စပ်လျဉ်း၍ သတိပေးထားတော်မူသည်မှာ အကယ်၍ ဤကျမ်းမြတ်သည် အလ္လာဟ်ထံတော်မှ ထုတ်ပြန်ချမှတ်ထားတော်မူသော ကျမ်းမြတ်ဖြစ်နေပါသော် (အမှန်မှာလည်း ကုရ်အာန်ကျမ်းမြတ်သည် အလ္လာဟ်အရှင်မြတ်၏ ကျမ်းဂန်ပင်ဖြစ်သည်) သို့ပါလျက် အသင်တို့သည် ထိုကုရ်အာန်ကျမ်းမြတ်ကို သွေဖည်ငြင်းဆန်လက်မခံကြသော်၊ ကုရ်အာန်ကျမ်းလာ ဒေသနာတော်များကို သွေဖည်၍ မိမိတို့၏နောင်ရေးကို မစဉ်းစားကြသော်၊ အမှန်တရားနှင့် ဝေးသည်ထက်ဝေး၍ နေကြသော် အသင်တို့ထက် လမ်းမှားသူ၊ပျက်စီးဆုံးရှုံးသူ အသူရှိအံ့နည်း။

(၂) ကုရ်အာန်ကျမ်းမြတ်သည် အလ္လာဟ်အရှင်မြတ်ထံတော်မှ ထုတ်ပြန်ချမှတ်ထားတော်မူသော ကျမ်းဂန်အစစ်အမှန်ဖြစ်ကြောင်းနှင့် စပ်လျဉ်း၍ အတွင်း၊အပြင် သက်သေသာဓက အထောက်အထား အမြောက်အမြားရှိချေသည်။ တွေးဆဆင်ခြင် မြော်မြင်ကြသည့် မြောက်မြားစွာသော ပုဂ္ဂိုလ်များကလည်း လက်ခံထားကြပေသည်။

သို့ပါလျက် ဇွတ်မှိတ်၍ငြင်းဆန်နေသော ပုဂ္ဂိုလ်များအား အလ္လာဟ်အရှင်မြတ်က သတိပေးထားတော်မူသည်မှာ– ငါအရှင်မြတ် သည် မိမိ၏တန်ခိုးတော်ဆိုင်ရာ သက်သေလက္ခဏာတော်များကို မကြာမီအတွင်း ၎င်းတို့၏ကိုယ်များတွင် လည်းကောင်း၊ ၎င်းတို့၏ပတ်ဝန်းကျင်ရှိ အာရေဗျပြည်တွင်လည်းကောင်း၊ ▶▶

اَلَآ اِنَّهُمْ فِىْ مِرْيَةٍ مِّنْ لِّقَآءِ رَبِّهِمْ ۗ اَلَآ اِنَّهٗ بِكُلِّ شَىْءٍ مُّحِيْطٌ ﴿٥٤﴾

၅၄။ သတိပြုကြလေကုန်။ စင်စစ်မှန်သော် ငင်းတို့သည် မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်နှင့် တွေ့ဆုံကြရမည်နှင့်စပ်လျဉ်း၍ အရာခပ်သိမ်းရှိနေကြကုန်၏။ သတိပြုကြလေကုန်။ မလွဲဧကန်ထိုအရှင်မြတ်သည် အရာခပ်သိမ်းတို့ကို ဝန်းခြုံလျက်ရှိတော်မူပေသတည်း။

➤➤ အာရေဗျပြည်တွင်းသာမက ကမ္ဘာ့အဝှန်းတွင်လည်းကောင်း၊ ပြသတော်မူမည်။

ယင်းသည့် သက်သေလက္ခဏာတော်များကို ထောက်ရှုခြင်းအားဖြင့် ကုရ်အာန်ကျမ်းမြတ်နှင့် ကုရ်အာန်ကျမ်းမြတ်ကို ယူဆောင်လာသော တမန်တော်မြတ်၏ မှန်ကန်မှုသည် "လယ်ပြင်ဆင်သွားသည့်အလား" ထင်ရှားသွားပေမည်၊ ထိုသည့် သက်သေလက္ခဏာတော်များကား အခြားမဟုတ်။ ကုရ်အာန်ကျမ်းမြတ်၏ ကြိုတင်ဟောကြားချက်အရ ဖြစ်ပါလာခဲ့သော ကမ္ဘာ့သမိုင်းစဉ်တွင် ဖြစ်ရိုးဖြစ်စဉ် အကြောင်းတရားများနှင့် ဖြောင့်ဖြောင့်ကြီးဆန့်ကျင်သော၊ ဉာဏ်နှင့်ယှဉ်၍ စဉ်းစားရန်ခဲယဉ်းလှသော ကြီးမားလှသော အစ္စလာမ်၏ အံ့ဖွယ်သရဲအောင်နိုင်မှုများပင်။

ယင်းသည့် သက်သေလက္ခဏာတော်များအနက် အချို့သက်သေလက္ခဏာတော်များကို မက္ကာမြို့သား ကာဖိရ်များသည် "ဗဒ်ရ်"စစ်ပွဲ၌ မိမိတို့၏ကိုယ်များတွင် လည်းကောင်း၊ မက္ကာမြို့တော်ကို မုစ်လင်မ်များ ပြန်လည်သိမ်းပိုက်ကြသည့်အခါ အာရေဗျပြည်၏ မြို့တော်တွင်လည်းကောင်း၊ "ခလီဖဟ်" သမ္မတကြီး လေးပါးလက်ထက်၌ ကမ္ဘာအရပ်ရပ်တွင်လည်းကောင်း မျက်ဝါးထင်ထင် တွေ့မြင်ခဲ့ကြရလေပြီမဟုတ်ပါလော။

# ဆွေးနွေးတိုင်ပင်ခြင်းကဏ္ဍ

سُوْرَةُ الشُّوْرٰى

ဤကဏ္ဍသည် "ရှူရာ"ဆွေးနွေးတိုင်ပင်ခြင်း အကြောင်းပါဝင်သော ကဏ္ဍမည်၏။
မက္ကာမြို့တော်၌ ကျရောက်ခဲ့၏။ ဤကဏ္ဍတွင် အာယတ်တော်(၅၃)ပါး၊
ရကူအ်အပိုဒ်(၅)ပိုဒ် အသီးသီးပါရှိသည်။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ

အနန္တကရုဏာတော်ရှင် ဖြစ်တော်မူသော
အလွန်တရာ သနားကြင်နာ ညှာတာတော်မူသော
အလ္လာဟ်အရှင်မြတ်၏ နာမံတော်ဖြင့် အစပြုပါ၏။

حٰمٓ ۚ ﴿١﴾

၁။ ဟားမီမ်၊

عٓسٓقٓ ﴿٢﴾

၂။ အိုင်န်၊ စီန်၊ ကာဖ်။

كَذٰلِكَ يُوْحِيْٓ اِلَيْكَ وَاِلَى الَّذِيْنَ مِنْ قَبْلِكَ ۙ اللّٰهُ الْعَزِيْزُ الْحَكِيْمُ ﴿٣﴾

၃။ အလွန်တရာ နိုင်နင်းလွှမ်းမိုးတော်မူသော၊ ဆင်ခြင်တုံတရားနှင့် ပြည့်စုံတော်မူသော အလ္လာဟ် အရှင်မြတ်သည် အသင့်ထံသို့လည်းကောင်း၊ အသင့် အလျင်ပွင့်ခဲ့ကြလေသော တမန်တော်များထံသို့ လည်း ကောင်း၊ ဤနည်းအတိုင်းပင် ဝဟ်ယ်တော် ထုတ်ပြန် လေ့ရှိတော်မူခဲ့၏။ [၁]

لَهٗ مَا فِي السَّمٰوٰتِ وَمَا فِي الْاَرْضِ ۭ وَهُوَ الْعَلِيُّ الْعَظِيْمُ ﴿٤﴾

၄။ မိုးကောင်းကင်များ၌ ရှိသမျှတို့သည်လည်း ကောင်း၊ ကမ္ဘာမြေ၌ ရှိသမျှတို့သည်လည်းကောင်း၊ ထိုအရှင်မြတ် ပိုင်ဆိုင်တော်မူသော အရာများပင် ဖြစ် ကုန်၏။ ထိုမှတစ်ပါး ထိုအရှင်မြတ်သည် အလွန် မြင့်မြတ်လှတော်မူသော၊ ထူးကဲ ကြီးမြင့်လှတော်မူ သောအရှင် ဖြစ်တော်မူ၏။

---

(၁) တမန်တော်မြတ်ထံသို့ အလ္လာဟ်အရှင်မြတ်ထံတော်မှ အာယတ်တော်များကို ထုတ်ပြန်ပို့ချပေးတော်မူခြင်းမှာ အထူးအဆန်းမဟုတ်ပေ၊ အလ္လာဟ်အရှင်မြတ်သည် တမန်တော်မြတ်ထံ အာယတ်တော်များကို ထုတ်ပြန်ပို့ချတော် မူသကဲ့သို့ တမန်တော်မြတ်အလျင် ပွင့်လေခဲ့ကြကုန်သော တမန်တော်များထံသို့လည်း အာယတ်တော်များကို ထုတ်ပြန်ပို့ချတော်မူခဲ့သည်သာ ဖြစ်ပေသည်။ အလ္လာဟ်အရှင်မြတ်သည် အရာရာကို လွှမ်းမိုးတော်မူလျက်ရှိသည်။ ထိုအရှင်မြတ်၏ ဉာဏ်တော်သည် အရာရာကို လွှမ်းခြုံလျက်ရှိပေသည်။

تَكَادُ السَّمٰوٰتُ يَتَفَطَّرْنَ مِنْ فَوْقِهِنَّ وَالْمَلٰٓئِكَةُ يُسَبِّحُوْنَ بِحَمْدِ رَبِّهِمْ وَيَسْتَغْفِرُوْنَ لِمَنْ فِى الْاَرْضِ ؕ اَلَآ اِنَّ اللّٰهَ هُوَ الْغَفُوْرُ الرَّحِيْمُ ﴿٥﴾

၅။ *မိုးကောင်းကင်များသည် မိမိတို့အပေါ်မှ အက်ကွဲပြိုကျအံ့ဆဲဆဲ ဖြစ်ကုန်၏။* [၁] ၎င်းပြင် "မလာအိကဟ်" ကောင်းကင်တမန်တို့သည် မိမိတို့ကို ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်အား ချီးမွမ်းထောပနာပြုခြင်းနှင့်တကွ (ထိုအရှင်မြတ်) စင်ကြယ်သန့်ရှင်းတော်မူကြောင်း မြွက်ဆိုလျက်ရှိကြသည့်ပြင် ၎င်းတို့သည် ကမ္ဘာမြေ၌ရှိသူတို့အဖို့ လွတ်ငြိမ်းချမ်းသာခွင့်ကိုလည်း ပန်ကြားလျက်ရှိကြကုန်၏။ သတိပြုကြလေကုန်၊ ဧကန်အမှန် အလ္လာဟ်အရှင်မြတ်သည်ပင် အလွန်တရာ ခွင့်လွှတ်တော်မူသော အလွန်တရာ သနားကြင်နာတော်မူသော အရှင်ဖြစ်တော်မူ၏။

وَالَّذِيْنَ اتَّخَذُوْا مِنْ دُوْنِهٖٓ اَوْلِيَآءَ اللّٰهُ حَفِيْظٌ عَلَيْهِمْ ۖ وَمَآ اَنْتَ عَلَيْهِمْ بِوَكِيْلٍ ﴿٦﴾

၆။ ထိုအရှင်မြတ်မှတစ်ပါး အခြားကို ကိစ္စအဝဝကို ပြီးစီးအောင် ဆောင်ရွက်ပေးသူများအဖြစ် ရွေးချယ်ပြုလုပ်ခဲ့ကြသောသူတို့အား အလ္လာဟ်အရှင်မြတ်သည် ကြည့်ရှုစောင့်ကြပ်တော်မူလျက်ရှိ၏။ စင်စစ်သော်ကား အသင်သည် ၎င်းတို့နှင့်ပတ်သက်၍ တာဝန်ခံ မဟုတ်ပေတကား။ [၂]

---

(၁) "မိုးကောင်းကင်များသည် ၎င်းတို့အပေါ်သို့ အက်ကွဲပြိုကျအံ့ဆဲဆဲဖြစ်သည်"။ ဆိုလိုသည်ကား မိုးကောင်းကင်များသည် အလ္လာဟ်အရှင်မြတ်၏ အတိုင်းမသိ အလွန့်အလွန်ကြီးမားသော ဘုန်းအရှိန်ကြောင့်သော်လည်းကောင်း၊ အသင်္ချေအသင်္ချာသော ကောင်းကင်တမန်တို့၏ ဝန်ရှိန်ကြောင့်သော်လည်းကောင်း၊ အသင်္ချေ၊ အသင်္ချာသော ကောင်းကင်တမန်တို့၏ အသင်္ချေ၊ အသင်္ချာသော ဂုဏ်တော်မွမ်းခြင်းများကြောင့်သော်လည်းကောင်း၊ အက်ကွဲပြိုကျလုဘနန်း ဖြစ်ပေသည်ဟူ၏။ တမန်တော်မြတ်၏ ဩဝါဒတော်များတွင် လာရှိသည်မှာ မိုးကောင်းကင်များသည် အလ္လာဟ်အရှင်မြတ်အား ပျပ်ဝပ်ဦးချလျက် ရှိသော ကောင်းကင်တမန်တော်များနှင့် လုံးဝပြည့်နက်လျက်ရှိသည်။ လက်လေးသစ်မျှပင် နေရာလပ်မရှိ။

(၂) ဆိုလိုသည်ကား အလ္လာဟ်အရှင်မြတ်သည် မုရှ်ရစ်ကင်တို့အား ဉာဏ်ပစ္စက္ခတွင် ခေတ္တခဏ လျစ်လျူပြုထားတော်မူသည်။ သို့ရာတွင် မုရှ်ရစ်ကင်များသည် ယင်းသို့ ခေတ္တခဏ လျစ်လျူပြုထားတော် မူသည်ကိုအကြောင်းပြု၍ ငါတို့သည် ရာသက်ပန် လွတ်မြောက်ကြပြီဟူ၍ကား အထင်မမှားကြရာ။ အဘယ်ကြောင့်ဆိုသော် အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့၏ အပြုအမူ အားလုံးကို သိတော်မူသည်။ မှတ်သားထားတော်မူသည်။ မှတ်တမ်းတော်တွင် စေ့စွာ ရေးမှတ်ထားတော်မူသည်။ အချိန်ကျသည့်အခါ ဖွင့်ပြတော်မူပေမည်။

وَكَذٰلِكَ اَوۡحَيۡنَاۤ اِلَيۡكَ قُرۡاٰنًا عَرَبِيًّا لِّـتُـنۡذِرَ اُمَّ الۡقُرٰى وَمَنۡ حَوۡلَهَا وَتُنۡذِرَ يَوۡمَ الۡجَمۡعِ لَا رَيۡبَ فِيۡهِ‌ؕ فَرِيۡقٌ فِى الۡجَنَّةِ وَفَرِيۡقٌ فِى السَّعِيۡرِ ۞

၇။ ထိုနည်းတူစွာ ငါအရှင်မြတ်သည် အသင်တို့ ထံသို့ အသင်သည် (ဦးစွာပထမ) မက္ကာဟ်မြို့(သားတို့) ကိုလည်းကောင်း၊ ယင်းမက္ကာဟ်မြို့၏ ပတ်ဝန်းကျင်(၌ နေထိုင်သူတို့)ကိုလည်းကောင်း၊ သတိပေး နှိုးဆော်အံ့ သောငှာ၊ ထို့ပြင် ဒွိဟသံသယ အလျှင်းမရှိသော ("ကိယာမတ်" ရှင်ပြန်ထမည့်)နေ့နှင့် စပ်လျဉ်း၍ အသိပေး နှိုးဆော်အံ့သောငှာလည်းကောင်း၊ အရဗီ ဘာသာစကားဖြင့်ဖြစ်သော (ဤ)ကုရ်အာန်ကျမ်းတော် မြတ်ကို ထုတ်ပြန်တော်မူခဲ့၏။ (၎င်းတို့အနက်) အုပ်စု တစ်စုမှာ "ဂျန္နတ်" သုခဘုံသို့ (လား၍) အုပ်စုတစ်စု မှာကား "ဂျဟန္နမ်" ငရဲဘုံသို့ (လားကြပေမည်)။ ၁

وَلَوۡ شَآءَ اللّٰهُ لَجَعَلَهُمۡ اُمَّةً وَّاحِدَةً وَّلٰـكِنۡ يُّدۡخِلُ مَنۡ يَّشَآءُ فِىۡ رَحۡمَتِهٖ‌ؕ وَالظّٰلِمُوۡنَ مَا لَهُمۡ مِّنۡ وَّلِىٍّ وَّلَا نَصِيۡرٍ ۞

၈။ စင်စစ်သော်ကား အကယ်၍သာ အလ္လာဟ် အရှင်မြတ်သည် အလိုတော်ရှိတော်မူခဲ့ပါလျှင် အမှန်ပင် ၎င်းတို့အား သာသနာဝင်အုပ်စုတစ်စုတည်း ပြုလုပ် တော်မူခဲ့မည်သာ။ သို့ရာတွင် ထိုအရှင်မြတ်သည် မိမိ အလိုရှိတော်မူသော သူတို့အားသာလျှင် မိမိကရုဏာ တော်သို့ ဝင်ရောက်စေတော်မူ၏။ စင်စစ်သော်ကား မတရားကျူးလွန်သူတို့အား ကာကွယ်စောင့်ရှောက် အံ့သောသူဟူ၍လည်း တစ်ဦးတစ်ယောက်မျှပင် ရှိလိမ့် မည် မဟုတ်ပေ၊ ကူညီ စောင်မအံ့သောသူဟူ၍လည်း တစ်ဦးတစ်ယောက်မျှပင် ရှိလိမ့်မည်မဟုတ်ချေ။

---

(၁) ဤအာယတ်တော်တွင် ပါရှိသော "အွန်မွုလ်ကုရာ" မြို့ရွာအပေါင်းတို့၏ အမိဟူသည် မက္ကာဟ်မြို့တော်ကို ဆိုလိုသည်။ မက္ကာဟ်မြို့တော်သည် အာရေဗျပြည်၏မြို့တော်လည်းဖြစ်သည်။ အရဗ် အမျိုးသားများသည်လည်း မက္ကာဟ်မြို့တော်၌ပင် စုရုံးကြသည်။ ကမ္ဘာ့အဝှန်းတွင် အလ္လာဟ်အရှင်မြတ်၏ အိမ်တော်မှာလည်း မက္ကာဟ်မြို့တော် ၌ပင် တည်ရှိပေသည်။ အဆိုပါအိမ်တော်သည် ကမ္ဘာ့မြေမျက်နှာပြင်ပေါ်တွင် ပထမဦးဆုံး ဝတ်ပြုရာဌာနလည်း ဖြစ်ခဲ့ပေသည်။ (ရိဝါယာတ်) ကျမ်းချက်များအရ ကမ္ဘာမြေကို စတင်ဖန်ဆင်းတော်မူရာတွင် အလ္လာဟ်အရှင်မြတ် သည် အဆိုပါအိမ်တော်တည်ရှိရာ နေရာမှာပင် ပထဝီမြေကြီးကို ဖြန့်တော်မူခဲ့ပေသည်။

အဆိုပါမြို့တော်၏ ပတ်ဝန်းကျင်ဟူသည် ပထမသော် အာရေဗျတိုင်းပြည်၊ ထို့နောက်သော် ➤➤

أَمِ اتَّخَذُوا مِن دُونِهِۦٓ أَوْلِيَآءَ ۖ فَٱللَّهُ هُوَ ٱلْوَلِىُّ وَهُوَ يُحْىِ ٱلْمَوْتَىٰ وَهُوَ عَلَىٰ كُلِّ شَىْءٍ قَدِيرٌ ⑨

၉။ ၎င်းတို့သည် ထိုအရှင်မြတ်မှတစ်ပါး အခြားသူတို့အား ကိစ္စအဝဝကို ပြီးစီးအောင် ဆောင်ရွက်ပေးသူများအဖြစ် ရွေးချယ်ပြုလုပ် ထားခဲ့ကြလေသလော။ အမှန်စင်စစ်မှာကား အလ္လာဟ်အရှင်မြတ်သာလျှင် ကိစ္စအဝဝကို ပြီးစီးအောင် ဆောင်ရွက်ပေးတော်မူသော အရှင်ဖြစ်တော်မူ၏။ ၎င်းပြင် ထိုအရှင်မြတ်သည်သာလျှင် သူသေတို့အား ရှင်စေတော်မူမည်။ ထိုမှတစ်ပါး ထိုအရှင်မြတ်သည်သာလျှင် အရာခပ်သိမ်းတို့ကို ပြုစွမ်းနိုင်တော်မူသော အရှင်ဖြစ်တော်မူ၏။

وَمَا ٱخْتَلَفْتُمْ فِيهِ مِن شَىْءٍ فَحُكْمُهُۥٓ إِلَى ٱللَّهِ ۚ ذَٰلِكُمُ ٱللَّهُ رَبِّى عَلَيْهِ تَوَكَّلْتُ وَإِلَيْهِ أُنِيبُ ⑩

၁၀။ ၎င်းပြင် အကြင်ကိစ္စသည် ယင်းကိစ္စနှင့်စပ်လျဉ်း၍ အသင်တို့သည် (မုစ်လင်မ်တို့နှင့်) ကွဲပြားလျက်ရှိကြကုန်၏။ စင်စစ်သော်ကား ယင်းကိစ္စ၏ အဆုံးအဖြတ်မှာ အလ္လာဟ်အရှင်မြတ်အထံတော်၌ပင် ရှိ၏။ ဤသည်ပင် ငါ့အား ဖန်ဆင်းမွေးမြူတော်မူသော အလ္လာဟ်အရှင်မြတ် ဖြစ်တော်မူ၏။ ငါသည် ထိုအရှင်မြတ်အပေါ်၌ပင် ယုံပုံလွှဲအပ်ပေသည်။ ၎င်းပြင် ငါသည် ထိုအရှင်မြတ်ဘက်သို့သာလျှင် ပြန်လှည့်၏။

فَاطِرُ ٱلسَّمَٰوَٰتِ وَٱلْأَرْضِ ۚ جَعَلَ لَكُم مِّنْ أَنفُسِكُمْ

၁၁။ (ထိုအရှင်မြတ်သည်ပင်) မိုးကောင်းကင်များကိုလည်းကောင်း၊ ကမ္ဘာမြေကိုလည်းကောင်း၊ ဖန်ဆင်းတော်မူသောအရှင် ဖြစ်တော်မူ၏။

---

➤➤ ကမ္ဘာ့အဝှန်း ကိုဆိုလိုသည်။ အလ္လာဟ်အရှင်မြတ်သည် အတိတ်ခေတ် တမန်တော်များထံသို့ (ဝဟ်ယ်) အမိန့်တော်များ ပို့ချတော်မူခဲ့သည့်အလား တမန်တော်မြတ်ထံသို့လည်း အရဗ်ဘာသာစာပေဖြင့် ဖြစ်သော ကုရ်အာန်ကျမ်းမြတ်ကို ထုတ်ပြန်ပို့ချ ပေးသနားတော်မူခဲ့သည်။

ယင်းသို့ ကုရ်အာန်ကျမ်းမြတ်ကို ပို့ချပေးသနားတော်မူခြင်းမှာ– တမန်တော်မြတ်သည် ကုရ်အာန်ကျမ်းမြတ်ဖြင့် ဦးစွာပထမ မက္ကဟ်မြို့တော်သူ မြို့တော်သားများအား လည်းကောင်း၊ ထို့နောက် အာရေဗျတိုင်းသူပြည်သားများနှင့် ကမ္ဘာ့အဝှန်းအားလည်းကောင်း၊ သတိပေးနှိုးဆော်တော် မူရန်ပင်ဖြစ်ပေသည်။ အထူးသဖြင့် စုရုံးရမည့်နေ့ (ဝါ) ကိယာမတ်နေ့နှင့်စပ်လျဉ်း၍ သတိပေးနှိုးဆော်တော် မူရန်ဖြစ်သည်။ ထိုနေ့တွင် လူသားအားလုံးတို့ စုရုံးကြရမည်ဖြစ်သည်။ ကြည့်–ကုရ်အာန် (၆၄း၉)။

أَزْوَاجًا وَّمِنَ الْأَنْعَامِ أَزْوَاجًا يَذْرَؤُكُمْ فِيهِ ۚ لَيْسَ كَمِثْلِهِ شَيْءٌ ۖ وَهُوَ السَّمِيعُ الْبَصِيرُ ﴿١١﴾

ထိုအရှင်မြတ်သည်ပင် အသင်တို့အဖို့ အသင်တို့၏အမျိုးအစားထဲမှပင် ကြင်ရာကြင်ဖက်များကို ဖန်ဆင်းတော်မူခဲ့၏။ ထိုနည်းတူစွာ ခြေလေးချောင်းတိရစ္ဆာန်တို့၏ စုံတွဲများကိုလည်း ဖန်ဆင်းတော်မူခဲ့၏။ ယင်းသို့ ပြုလုပ်ခြင်းအားဖြင့် ထိုအရှင်မြတ်သည် အသင်တို့အား ပြန့်ပွားစေတော်မူ၏။ ထိုအရှင်မြတ်နှင့် တူသောအရာဟူ၍ကား မည်သည့် တစ်စုံတစ်ရာမျှပင် မရှိပြီ။ ထိုအရှင်မြတ်သည်ပင် အကြွင်းမဲ့ကြားတော်မူသောအရှင်၊ မြင်တော်မူသောအရှင်ဖြစ်တော်မူ၏။ [၁]

لَهُ مَقَالِيدُ السَّمَاوَاتِ وَالْأَرْضِ ۖ يَبْسُطُ الرِّزْقَ لِمَن يَشَاءُ وَيَقْدِرُ ۚ إِنَّهُ بِكُلِّ شَيْءٍ عَلِيمٌ ﴿١٢﴾

၁၂။ *မိုးကောင်းကင်များနှင့်ပထဝီမြေ၏ သော့များသည် ထိုအရှင်မြတ်၌သာ ရှိကုန်၏။* [၂] ထိုအရှင်မြတ်သည် မိမိအလိုရှိတော်မူသောသူအား စားနပ်ရိက္ခာကို ကျယ်ဝန်းစွာ ချီးမြှင့်တော်မူ၏။ ထိုနည်းတူစွာ (မိမိအလိုရှိတော်မူသောသူအား စားနပ်ရိက္ခာကို) ကျပ်တည်းစေတော်မူ၏။ ဧကန်မလွဲ ထိုအရှင်မြတ်သည် အရာခပ်သိမ်းတို့ကို အကြွင်းမဲ့သိတော်မူသော အရှင်မြတ်ပင်ဖြစ်တော်မူပေသတည်း။

---

(၁) အလ္လာဟ်အရှင်မြတ်သည် တန်ခိုးတော်အနန္တရှင်၊ ဉာဏ်တော်အနန္တရှင် ဖြစ်တော်မူသည်၊ တစ်ဆူတည်း၊ တစ်ပါးတည်း ဖြစ်တော်မူသည်။ ထိုအရှင်မြတ်၌ အစမရှိ၊အဆုံးမရှိ၊ ပြိုင်ဖက်၊ယှဉ်ဖက်မရှိ၊ ထိုအရှင်မြတ်၏ ဇာတိတော်တွင်လည်းတူသူမရှိ၊ ဂုဏ်တော်များတွင်လည်း တူသူမရှိ။ ထိုအရှင်မြတ်၏ဇာတိတော်၊ ဂုဏ်တော်များတွင်သာမက ထိုအရှင်မြတ်၏ အမိန့်ပညတ်တော်များ၊ အဆုံးအဖြတ်တော်များတွင်လည်း တူသောသာသနာလည်းမရှိ။ ထိုအရှင်မြတ်၏ဇာတိတော်ကို တွေးတောကြံဆ၍ မဖြစ်နိုင်ရကား ထိုအရှင်မြတ်နှင့်တူသောအရာသည် အသို့လျှင်ရှိနိုင်အံ့နည်း။

(၂) ဘဏ္ဍာတော်တိုက် အားလုံးတို့၏ သော့များသည် အလ္လာဟ်အရှင်မြတ်၏ လက်တော်တွင်း၌သာ ရှိပေသည်။ ဆိုလိုသည်ကား အခွင့်အာဏာအားလုံးသည် အလ္လာဟ်အရှင်မြတ်၏လက်တော်တွင်း၌သာရှိပေသည်။ ထိုအရှင်မြတ်သည် မိမိ၏အာသာဆန္ဒတော်အတိုင်း စီမံခန့်ခွဲတော်မူသည်။ ခြယ်လှယ်တော်မူသည်။ သတ္တဝါအပေါင်းတို့အား စားနပ်ရိက္ခာကို ထိုအရှင်မြတ်သည်ပင် ပေးသနားတော်မူသည်။ မည်သူ့အား မည်ရွေ့မည်မျှ ပေးအပ်သင့်သည်ကို ထိုအရှင်မြတ်သည် အကြွင်းမဲ့သိတော်မူသည်။ ထို့အတူ အရေးကိစ္စအဝဝတွင် ထိုက်တန်သူအား ထိုက်တန်သည်နှင့်အမျှ ပေးသနားတော်မူသည်သာဖြစ်သည်။

ဤသည့်သဘောကို ကုရ်အာန် (၃၉း၆၃)တွင်လည်း မိန့်ဆိုထားတော်မူသည်။

شَرَعَ لَكُمۡ مِّنَ الدِّيۡنِ مَا وَصّٰى بِهٖ نُوۡحًا وَّالَّذِىۡۤ اَوۡحَيۡنَاۤ اِلَيۡكَ وَمَا وَصَّيۡنَا بِهٖۤ اِبۡرٰهِيۡمَ وَمُوۡسٰى وَعِيۡسٰٓى اَنۡ اَقِيۡمُوا الدِّيۡنَ وَلَا تَتَفَرَّقُوۡا فِيۡهِ ؕ كَبُرَ عَلَى الۡمُشۡرِكِيۡنَ مَا تَدۡعُوۡهُمۡ اِلَيۡهِ ؕ اَللّٰهُ يَجۡتَبِىۡۤ اِلَيۡهِ مَنۡ يَّشَآءُ وَيَهۡدِىۡۤ اِلَيۡهِ

၁၃။ ထိုအရှင်မြတ်သည် အသင်တို့အဖို့ အကြင်သာသနာတော်ကိုပင် သတ်မှတ်ပြဋ္ဌာန်း၍ ပေးတော်မူခဲ့၏၊ ထိုအရှင်မြတ်သည် (နဗီတမန်တော်) "နူဟ်"အား ယင်းသာသနာတော်ကိုပင် နာယူကျင့်မူရန် အမိန့်ပေးတော်မူခဲ့၏။ ၎င်းပြင် ငါအရှင်မြတ်သည် ယင်းသာသနာတော်ကိုပင် အသင့်ထံသို့ ထုတ်ပြန်တော်မူခဲ့၏။ ထိုမှတစ်ပါး ငါအရှင်မြတ်သည် ယင်းသာသနာတော်ကိုပင် နာယူကျင့်မူရန် (နဗီတမန်တော်) "အီဗ်ရာဟီမ်" အားလည်းကောင်း၊ (နဗီတမန်တော်) "မူစာ" အားလည်းကောင်း၊ (နဗီတမန်တော်) "အီစာ" အားလည်းကောင်း၊ *အမိန့်ပေးတော်မူခဲ့၏။* [၁] အသင်တို့သည် "ဒီန်"သာသနာတော်ကို ခိုင်မြဲ တည်ရှိစေကြလေကုန်။ ထိုမှတစ်ပါး အသင်တို့သည် ယင်းသာသနာတော်နှင့်စပ်လျဉ်း၍ ကွဲပြားခြင်း၊ အုပ်စုကွဲခြင်း၊ မရှိကြကုန်လင့်ဟူ၍ အမိန့်ပေးတော်မူခဲ့၏။

---

(၁) **တမန်တော်အပေါင်းတို့၏ တစ်ခုတည်းသော (ဒီန်)သာသနာ၊**

ဖခင်ကြီးအာဒမ်နောက် ပထမဦးဆုံးသော (ရစူလ်)တမန်တော်မှာ တမန်တော် နူဟ်ပင်ဖြစ်ခဲ့ပေသည်။ (ရှရီအတ်) တရားဥပဒေ၊ အမိန့်ပညတ်ချက်များသည် တမန်တော် နူဟ်လက်ထက်တွင်မှ စတင်ဖြစ်ပေါ်လာခဲ့ပေသည်။ နောက်ဆုံးတမန်တော်မှာ တမန်တော်မြတ် မုဟမ္မဒ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)ပင် ဖြစ်တော်မူပေသည်။ တမန်တော်အဖြစ် စေလွှတ်မှုသည်မှာလည်း တမန်တော်မြတ်၌ပင် ဆုံးခန်းတိုင်သွားခဲ့ပေပြီ။ တမန်တော်မြတ်နောက် တမန်တော်ပွင့်ရန် အလျင်းမရှိပြီ။ ပွင့်ရန်လည်းမလိုပြီ တမန်တော်မြတ်နှင့် တမန်တော် နူဟ်၏စပ်ကြားတွင် တမန်တော်အမြောက်အမြား ပွင့်တော်မူခဲ့ကြပေသည်။ ယင်းတမန်တော်များတွင် တမန်တော် အီဗ်ရာဟီမ်၊ တမန်တော်မူစာ တမန်တော်အီစာတို့သည် အထူး ကျော်ကြားခဲ့ကြပေသည်။

ဤတွင် အလ္လာဟ်အရှင်မြတ်က အတိအလင်း ဖွင့်ဟမြွက်ကြားထားတော်မူသည်မှာ (ဒီန်)သာသနာသည် တစ်ခုတည်းပင် အမြဲတစေ တည်ရှိခဲ့ပေသည်။ ပွင့်လေသမျှသော တမန်တော်အပေါင်းတို့၏ (ဒီန်)သာသနာသည်လည်း တစ်ခုတည်းပင်ဖြစ်ခဲ့ပေသည်။ အဘယ်ကြောင့်ဆိုသော် ပွင့်လေသမျှသော တမန်တော်အပေါင်းတို့၏ (ဒီန်)သာသနာသည် ယုံကြည်ချက်၊ ကိုယ်ကျင့်တရား၊ သာသနာရေးရာ အခြေခံသဘောတရားများတွင် အားလုံးတညီတညွတ်တည်းပင် ဖြစ်ခဲ့ပေသည်။ အသေးစိတ်များတွင်သာ ခေတ်အခါ၊ ပတ်ဝန်းကျင် အခြေအနေအရ ခြားနားမှုရှိခဲ့ပေသည်။ ကြည့်-ကုရ်အာန် (၅း၄၈)။

مَنْ يُّنِيْبُ ⑬

(အို–နဗီတမန်တော်) "မုရှ်ရစ်က်" တွဲဖက်နိုင်းယှဉ်ကိုးကွယ်ကြကုန်သော သူတို့၌ အသင် ၎င်းတို့အား ဖိတ်ခေါ်လျက်ရှိသော(တောင်ဟီဒ်)တရားတော်မှာ လွန်စွာခက်ခဲကြီးလေးလှ၏၊ (စင်စစ်မှာကား) အလ္လာဟ် အရှင်မြတ်သည် မိမိအလိုရှိတော်မူသောသူအား မိမိအထံတော်သို့ ရွေးချယ်တော်မူ၏၊ ထိုမှတစ်ပါး ထိုအရှင်မြတ်သည် မိမိဘက်တော်သို့ ပြန်လှည့်သောသူအား လမ်းညွှန်တော်မူ၏။ ①

وَمَا تَفَرَّقُوْٓا اِلَّا مِنْۢ بَعْدِ مَا جَآءَهُمُ الْعِلْمُ بَغْيًۢا بَيْنَهُمْ ؕ وَلَوْلَا كَلِمَةٌ سَبَقَتْ مِنْ رَّبِّكَ اِلٰٓى اَجَلٍ مُّسَمًّى لَّقُضِىَ بَيْنَهُمْ ؕ وَاِنَّ الَّذِيْنَ اُوْرِثُوا الْكِتٰبَ مِنْۢ بَعْدِهِمْ لَفِىْ شَكٍّ مِّنْهُ مُرِيْبٍ ⑭

၁၄။ အမှန်စင်စစ်သော်ကား ၎င်းတို့မှာ မိမိတို့ထံသို့ (တိကျမှန်ကန်သော) အသိပညာ ရောက်ရှိ၍လာပြီးနောက်သော်မှပင် မိမိတို့အချင်းချင်း မနာလိုမှုကြောင့် အုပ်စုကွဲခဲ့ကြကုန်၏။ စင်စစ်မှာကား အသင့်အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်အထံတော်မှ သတ်မှတ်ထားသည့်အချိန်ထိ (လျစ်လျူပြုထားရန် ရှေးဦးမဆွကပင် အမိန့်တော်တစ်ရပ် အတည်မဖြစ်ခဲ့ပါလျှင် ၎င်းတို့အကြားဝယ် အမှန်ပင် စီရင်ဆုံးဖြတ်ခဲ့ပြီး ဖြစ်မည်သာ။

ထိုမှတစ်ပါး ကေန်စင်စစ် ၎င်းတို့နောက်တွင် ကျမ်းဂန်ကို ပိုင်ဆိုင်စေခြင်းခံခဲ့ကြရသော သူတို့မှာမူကား ယင်းသာသနာတော်နှင့်စပ်လျဉ်း၍ ဝိစိကိစ္ဆာဖြစ်စေသော ဒွိဟသံသယ၌ ရှိနေကြကုန်သတည်း။

---

① တမန်တော်မြတ်သည် လူသားတို့အား (တောင်ဟီးဒ်) တစ်ဆူတည်းသော အလ္လာဟ်အရှင်မြတ်အားသာ ဆည်းကပ်ကိုးကွယ်ရန် ဖိတ်ခေါ်တော်မူခဲ့၏။ တောင်ဟီးဒ်သည် ပွင့်လေသမျှသော တမန်တော်အပေါင်းတို့၏ အခြေခံ ယုံကြည်ချက်တရားပင်ဖြစ်သည်။ ယုတ္တိလည်းရှိသည်။ ဉာဏ်နှင့် ယှဉ်ကြည့်ကလည်း မှန်ကန်နေသည်။ သို့ပါလျက် ယင်းသည့်တောင်ဟီးဒ်သည်ပင် မုရှ်ရစ်က်များအဖို့မှာ ခက်ခဲ၊ကြီးလေးနေပေသည်။

၎င်းတို့သည် ဤမည်သော တောင်ဟီးဒ်နှင့်စပ်လျဉ်း၍ ငြင်းခုန်နေကြသည်။ ဤသည် ကမ်းကုန်အောင် မိုက်မဲခြင်းပင်။ အမှန်မှာ တရားရခြင်း စသည်များသည် အလ္လာဟ်အရှင်မြတ်၏ လက်တော်တွင်း၌သာ ရှိပေသည်။ ထိုအရှင်မြတ်သည် မိမိ၏ကျွန်များအနက် မိမိအလိုရှိတော်မူသော ပုဂ္ဂိုလ်များအား ရွေးချယ်၍ ➤➤

فَلِذَٰلِكَ فَادْعُ ۖ وَاسْتَقِمْ كَمَا
أُمِرْتَ ۖ وَلَا تَتَّبِعْ أَهْوَاءَهُمْ ۖ
وَقُلْ آمَنتُ بِمَا أَنزَلَ اللَّهُ
مِن كِتَابٍ ۖ وَأُمِرْتُ لِأَعْدِلَ
بَيْنَكُمُ ۖ اللَّهُ رَبُّنَا وَرَبُّكُمْ ۖ لَنَا
أَعْمَالُنَا وَلَكُمْ أَعْمَالُكُمْ ۖ
لَا حُجَّةَ بَيْنَنَا وَبَيْنَكُمُ ۖ
اللَّهُ يَجْمَعُ بَيْنَنَا ۖ
وَإِلَيْهِ الْمَصِيرُ ﴿١٥﴾

၁၅။ သို့ဖြစ်ပေရာ (အို-နဗီတမန်တော်) ထိုသည့်အတွက်ကြောင့်ပင် အသင်သည် (၎င်းတို့အား မှန်ကန်သော "ဒီန်"သာသနာတော်သို့) ဖိတ်ခေါ်လျက်ရှိပါလေ။ ၎င်းပြင် အသင်သည် မိမိအမိန့်ပေးခြင်း ခံခဲ့ရသည့်အတိုင်း ဖြောင့်မတ်စွာ ရှိနေပါလေ။ ထို့ပြင် အသင်သည် ၎င်းတို့၏အလိုဆန္ဒများကို မလိုက်နာလေနှင့်၊ ထို့မှတစ်ပါး အသင်သည် ဤသို့ပြောကြားပါလေ။ ငါသည် အလ္လာဟ်အရှင်မြတ် ချပေးတော်မူခဲ့သော မည်သည့်ကျမ်းဂန်ကိုမဆို သက်ဝင်ယုံကြည်ပြီးဖြစ်၏။

၎င်းပြင် ငါသည် အသင်တို့အကြား၌ တရားမျှတရန် အမိန့်ပေးခြင်းကို ခံရ၏။ အလ္လာဟ်အရှင်မြတ်သည် ငါတို့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်လည်းဖြစ်တော်မူ၏။ အသင်တို့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်လည်း ဖြစ်တော်မူ၏။ ငါတို့၏ အကျင့်အမူတို့မှာ ငါတို့အဖို့ ဖြစ်၍ အသင်တို့၏ အကျင့်အမူတို့ကား အသင်တို့အဖို့ ဖြစ်၏။ ငါတို့နှင့်အသင်တို့၏အကြား၌ မည်သို့မျှ အငြင်းအခုံပြုရန်မရှိပြီ။ အလ္လာဟ်အရှင်မြတ်သည်ပင် ငါတို့အားလုံးကို စုရုံးတော်မူပေမည်။ ထို့မှတစ်ပါး ထိုအရှင်မြတ်အထံတော်သို့ပင် ပြန်ကြရပေမည်။ [၁]

---

➤➤ မြှောက်စားတော်မူသည်။ ထို့အတူ မိမိတို့၏ကောင်းမြတ်သော အရည်အချင်းများဖြင့် အလ္လာဟ်အရှင်မြတ်ဘက်တော်သို့ ပြန်လှည့်ကြသော ပုဂ္ဂိုလ်မွန်တို့အားလည်း ထိုအရှင်မြတ်သည် ကူညီတော်မူသည်သာဖြစ်သည်။ အောင်မြင်စေတော်မူသည်သာဖြစ်သည်။ ကြည့်-ကုရ်အာန် (၂၂:၇၅။ ၂၈:၆၈။ ၂၉:၆၉)။

① **အမိန့်တော် (၁၀) ပါး၊**

အထက်တွင် ဖော်ပြပါရှိသည့်အတိုင်း အမှန်တရားနှင့်စပ်လျဉ်း၍ အမျိုးမျိုး ငြင်းခုံကွဲပြားနေခဲ့ကြပေရာ အလ္လာဟ်အရှင်မြတ်သည် တမန်တော်မြတ်အား ဤအာယတ်တော်တွင် လာရှိသည့်အတိုင်း အမိန့်တော်(၁၀)ပါး မိန့်ကြားထားတော်မူသည်။

ဆိုလိုသည်ကား - တမန်တော်မြတ်သည် --



وَالَّذِيْنَ يُحَاۤجُّوْنَ فِى اللّٰهِ مِنْۢ بَعْدِ مَا اسْتُجِيْبَ لَهٗ حُجَّتُهُمْ دَاحِضَةٌ عِنْدَ رَبِّهِمْ وَعَلَيْهِمْ غَضَبٌ وَّلَهُمْ عَذَابٌ شَدِيْدٌ ﴿١٦﴾

၁၆။ စင်စစ်သော်ကား အလ္လာဟ်အရှင်မြတ်နှင့် ပတ်သက်၍ ထိုအရှင်မြတ်အား ဟုတ်မှန်ကြောင်း ဝန်ခံပြီးဖြစ်သည့်နောက်သော်မှပင် အငြင်းအခုံပြုကြကုန်သောသူတို့၏ အငြင်းအခုံပြုခြင်းမှာ ၎င်းတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်အထံတော်၌ အလွဲအချော်ပင် ဖြစ်ပေသည်။ ထို့ပြင် ၎င်းတို့အပေါ်၌ အမျက်တော်ကျရောက်မည့်အပြင် ၎င်းတို့၌ ပြင်းထန်လှစွာသော အပြစ်ဒဏ်သည်လည်း ရှိချိမ့်မည်။

>> (၁) ဖခင်ကြီးအာဒမ်၊ တမန်တော်နူဟ်၊ တမန်တော်အီဗ်ရာဟီမ်၊ တမန်တော်မူစာ၊ တမန်တော်အီစာ စသည့် ပွင့်လေကုန်သောတမန်တော်များကဲ့သို့ပင် လူသားတို့အား "တောင်ဟီးဒ်"ဘက်သို့ပင် ဖိတ်ခေါ်နေရမည်သာ။

(၂) မိမိနှင့်တကွ နောက်လိုက်ငယ်သားတို့သည် ယင်းသည့် တောင်ဟီးဒ်အပေါ်၌ပင် အမိန့်တော်နှင့်အညီ မယိမ်းမယိုင်တည့်မတ်ကြံ့ခိုင်စွာ နေရမည်သာ။

(၃) အမှန်တရားကို သွေဖည်နေကြသော သာသနာ့ရန်သူများ၏ စိတ်အာသာဆန္ဒကို စိုးစဉ်းမျှပင် လိုက်နာရန်မလို။ တမန်တော်မြတ်သည် အတိအလင်း ကြေညာအပ်သည်မှာ-

(၄) ကျွန်ုပ်သည် အလ္လာဟ်အရှင်မြတ် ထုတ်ပြန်ချမှတ်တော်မူခဲ့သော ကျမ်းဂန်အားလုံးကို ယုံကြည်သည်။ ယင်းကျမ်းဂန်များတွင် တောင်ရာတ်၊ ဣန်ဂျီလ်၊ ဇဗူရ်၊ ကုရ်အာန်စသည့် ကျမ်းများအားလုံး အကျုံးဝင်သည်။

(၅) ကျွန်ုပ်သည် အသင်တို့၏ပြဿနာများကို ချိန်ခွင်ပမာ တရားမျှတစွာ စီရင်ဆုံးဖြတ်မည်။

(၆) အလ္လာဟ်အရှင်မြတ်သည် ကျွန်ုပ်တို့၏ အရှင်လည်းဖြစ်တော်မူသည်။ ဤသည်ကို ကျွန်ုပ်တို့သည် ကြည်ဖြူစွာ ဝန်ခံကြသည်။ ထိုအရှင်မြတ်သည် အသင်တို့၏ အရှင်လည်းဖြစ်တော်မူသည်။ သို့ရာတွင် အသင်တို့သည် ကြည်ဖြူစွာ ဝန်မခံကြပေ။

(၇) ကျွန်ုပ်တို့၏ အပြုအမူများသည် ကျွန်ုပ်တို့နှင့် အတူပါမည်သာ။ အသင်တို့၏ အပြုအမူများသည် အသင်တို့နှင့် အတူပါမည်သာ။ ကိုယ့်ဝန် ကိုယ်ထမ်းကြရမည်သာ။

(၈) သို့ဖြစ်ရာ ကျွန်ုပ်တို့သည် အချင်းချင်း အငြင်းအခုံ ပြုနေကြရန်မလို။

(၉) တစ်ရက် အလ္လာဟ်အရှင်မြတ်သည် ကျွန်ုပ်တို့အားလုံးတို့အား စုရုံးတော်မူမည်သာ။

(၁၀) ကျွန်ုပ်တို့အားလုံးသည် ထိုအရှင်မြတ် ရှေ့တော်မှောက်သို့ ပြန်လည်ရောက်ရှိကြပြီး စာရင်းရှင်းကြရမည်။ ထိုအခါ မည်သူမှန်သည်၊ မည်သူမှားသည်၊ မည်သူကောင်းသည်၊ မည်သူဆိုးသည်၊ မည်သူမြတ်သည်၊ မည်သူရှုံးသည်၊ မည်သူမည်သို့စံ၍ မည်သူမည်သို့ခံရမည်ကို ကောင်းစွာသိရှိသွားကြရပေမည်။

ကြည့်-အီဗ်နုကဆီရ်။

اَللّٰهُ الَّذِیْٓ اَنْزَلَ الْكِتٰبَ بِالْحَقِّ وَالْمِیْزَانَ ؕ وَمَا یُدْرِیْكَ لَعَلَّ السَّاعَةَ قَرِیْبٌ ﴿۱۷﴾

၁၇။ အလ္လာဟ်အရှင်မြတ်သည်ပင် ကျမ်းဂန်ဒေသနာတော်ကိုလည်းကောင်း၊ တရားမျှတမှုကိုလည်းကောင်း၊ *တိကျမှန်ကန်စွာ ချပေးတော်မူသောအရှင် ဖြစ်တော်မူ၏။* [၁] စင်စစ်သော်ကား (အို-နဗီတမန်တော်) အသင် မသိ၊ "ကိယာမတ် ရှင်ပြန်ထမည့် အချိန်ကာလသည် နီးကပ်စွာ ရှိတန်ရာသည်။"

یَسْتَعْجِلُ بِهَا الَّذِیْنَ لَا یُؤْمِنُوْنَ بِهَا ۚ وَالَّذِیْنَ اٰمَنُوْا مُشْفِقُوْنَ مِنْهَا ۙ وَیَعْلَمُوْنَ اَنَّهَا الْحَقُّ ؕ اَلَاۤ اِنَّ الَّذِیْنَ یُمَارُوْنَ فِی السَّاعَةِ لَفِیْ ضَلٰلٍۭ بَعِیْدٍ ﴿۱۸﴾

၁၈။ ယင်း "ကိယာမတ်" ရှင်ပြန်ထမည့်အချိန်နှင့် စပ်လျဉ်း၍ ၎င်းကို မယုံကြည်သောသူတို့သည်သာ လျှင် အလျင်စလို ပြုလျက်ရှိကြကုန်၏။ သို့ရာတွင် "မုအ်မင်န်" သက်ဝင် ယုံကြည်သူတို့မှာမူကား ယင်း "ကိယာမတ်" ရှင်ပြန်ထမည့် အချိန်ကာလကို စိုးရိမ်၍ နေကြကုန်၏။ ၎င်းပြင် ထိုသူတို့သည် ၎င်းကို မှန်ကန်သည်ဟု ယုံကြည်ကြကုန်၏။ သတိပြုကြလေကုန်။ "ကိယာမတ်" ရှင်ပြန်ထမည့် အချိန်ကာလနှင့်စပ်လျဉ်း၍ အငြင်းအခုံပြုကြသော သူတို့မှာမူကား လွန်စွာ ဝေးကွာလှသော လမ်းမှား၌ ရှိနေကြကုန်သတည်း။

---

(၁) ဤအာယတ်တော်တွင် ပါရှိသော "မီဇာန်"ဟူသောပုဒ်သည် "ဝဇန်"ဟူသောမူရင်းပုဒ်မှ ဆင်းသက်လာ၏။ 'မီဇာန်'သည် ချိန်တွယ်ရန် ပြုလုပ်ထားသော ကိရိယာ (ဝါ)ချိန်ခွင်ကိုဆိုလိုသည်။

အလ္လာဟ်အရှင်မြတ်သည် အရာဝတ္ထုပစ္စည်းများကို ချိန်တွယ်နိုင်ရန် ဝတ္ထုပစ္စည်းနှင့်ပြုလုပ်ထားသည့် ချိန်ခွင်ကိုလည်း ချပေးထားတော်မူသည်။ ထို့အတူ အသိဉာဏ်အမြော်အမြင်ဆိုင်ရာ ချိန်ခွင်ကိုလည်း ချပေးထားတော်မူသည်။ ဤသည့်ချိန်ခွင်ကား အခြားမဟုတ်။ ဖြောင့်မတ်မှန်ကန်စွာ တွေးတောဆင်ခြင်တတ်သော အသိဉာဏ်ပင်။

ထို့ပြင်တဝ အလ္လာဟ်အရှင်မြတ်သည် ကိုယ်ကျင့်တရားဆိုင်ရာ ချိန်ခွင်ကိုလည်း ချပေးထားတော်မူသည်။ ဤကား အခြားမဟုတ်။ တရားမျှတမှုပင်။ ထိုမှတပါး အလ္လာဟ်အရှင်မြတ်သည် (ဒီန်) မှန်ကန်သော သာသနာတော်ကိုလည်း ချပေးထားတော်မူသည်။ ယင်းသာသနာတော်သည် ဖန်ဆင်းတော်မူသော အရှင်နှင့် အဖန်ဆင်းခံတို့၏စပ်ကြားတွင် အပြန်အလှန် စောင့်သိရှိသေအပ်သော တာဝန်ဝတ္တရားများကို တိကျမှန်ကန်စွာ ရှင်းလင်းညွှန်ပြထားသည်။ ဖော်ပြပါ ချိန်ခွင်များအနက် သာသနာတော်တည်းဟူသော ချိန်ခွင်သည် အကြီးဆုံးပင် ဖြစ်သည်။

ٱللَّهُ لَطِيفٌۢ بِعِبَادِهِۦ يَرْزُقُ مَن يَشَآءُ ۖ وَهُوَ ٱلْقَوِىُّ ٱلْعَزِيزُ ١٩

၁၉။ အလ္လာဟ်အရှင်မြတ်သည် မိမိကျွန်တို့၏အလွန်နက်နဲသိမ်မွေ့သော အရေးကိစ္စတို့ကိုပင် ကောင်းစွာသိတော်မူသော အရှင်ဖြစ်တော်မူ၏။ ထိုအရှင်မြတ်သည် မိမိအလိုရှိတော်မူသောသူအား (မိမိအလိုရှိတော်မူသရွေ့) စားနပ်ရိက္ခာကို ပေးသနားတော်မူ၏။ ၎င်းပြင် ထိုအရှင်မြတ်သည် စွမ်းရည်သတ္တိနှင့် အလွန်ပြည့်စုံတော်မူသောအရှင်၊ လွန်စွာ နိုင်နင်းလွှမ်းမိုးတော်မူသော အရှင်ဖြစ်တော်မူ၏။ ၁

مَن كَانَ يُرِيدُ حَرْثَ ٱلْـَٔاخِرَةِ نَزِدْ لَهُۥ فِى حَرْثِهِۦ ۖ وَمَن كَانَ يُرِيدُ حَرْثَ ٱلدُّنْيَا نُؤْتِهِۦ مِنْهَا وَمَا لَهُۥ فِى ٱلْـَٔاخِرَةِ مِن نَّصِيبٍ ٢٠

၂၀။ မည်သူမဆို "အာခိရတ်" တမလွန်ဘဝ၏ လယ်ယာစိုက်ပျိုးမှုကို လိုလားသည်ရှိသော် ငါအရှင်မြတ်သည် ၎င်းအား ၎င်း၏လယ်ယာစိုက်ပျိုးမှုတွင် တိုးပွားစေတော်မူပေမည်။ သို့ရာတွင် မည်သူမဆို (ဤမျက်မှောက်)လောက၏ လယ်ယာစိုက်ပျိုးမှု လိုလားပါမူ ငါအရှင်မြတ်သည် ၎င်းအား(လည်း) ဤ(မျက်မှောက်) လောကမှ အနည်းငယ်ပေးတော်မူမည်။ သို့ရာတွင် "အာခိရတ်" တမလွန်ဘဝ၌မူကား ၎င်း၏အဖို့ မည်သည့် ဝေစုဝေပုံမျှပင် ရှိလိမ့်မည်မဟုတ်။

(၁) ထိုအရှင်မြတ်သည် မိမိ၏ကျွန်များ၏ နက်နဲသိမ်မွေ့မှုများကို သိတော်မူသည်။ ထောက်ထားတော်မူသည်။ အလွန်နူးညံ့သိမ်မွေ့စွာဖြင့် လူသားတို့အား မွေးမြူတော်မူသည်။ မိမိအလိုတော် ရှိတော်မူသောသူအား အလိုတော်ရှိသမျှ ချီးမြှင့်တော်မူသည်။ ထိုအရှင်မြတ်သည် လူသားတို့အား သနားတော်မူသည် မှန်၏။ မွေးမြူတော်မူသည် မှန်၏။

ဤသည့်ဂုဏ်တော်များကိုကြည့်၍ ငါတို့သည် အဘယ်မျှပင် အမိန့်တော်ကို ဖီဆန်ကြလင့်ကစား၊ ထိုအရှင်မြတ်သည် ငါတို့အား အရေးယူတော်မူမည် မဟုတ်ဟူ၍ကား အထင်မမှားရာ။ ထိုအရှင်မြတ်သည် အတိုင်းမသိ ကြီးမားသော စွမ်းရည်သတ္တိနှင့်လည်း ပြည့်စုံတော်မူသည်။ အရာရာကိုလည်း နိုင်နင်းလွှမ်းမိုးတော်မူသော အရှင်လည်း ဖြစ်တော်မူသည်။ သို့ဖြစ်ရာ ထိုအရှင်မြတ်သည် အမိန့်တော်ဖီဆန်သူများအား ထိုက်သည့်အားလျော်စွာ ပြစ်ဒဏ်ခတ်တော် မူနိုင်သည်ကိုလည်း မမေ့ရာ။ သို့ဖြစ်ရာ လူသားတို့သည် သခါရမျှသာဖြစ်သော လောကီစည်းစိမ်များတွင်သာ နစ်မွန်း၍မနေဘဲ နောင်တမလွန်ဘဝ၏ အမတသုခကို ရရှိရန် ကြိုးစားရာသည်။

أَمْ لَهُمْ شُرَكَٰٓؤُا۟ شَرَعُوا۟ لَهُم مِّنَ ٱلدِّينِ مَا لَمْ يَأْذَنۢ بِهِ ٱللَّهُ ۚ وَلَوْلَا كَلِمَةُ ٱلْفَصْلِ لَقُضِىَ بَيْنَهُمْ ۗ وَإِنَّ ٱلظَّٰلِمِينَ لَهُمْ عَذَابٌ أَلِيمٌ ﴿٢١﴾

၂၁။ ၎င်းတို့၌ အလ္လာဟ်အရှင်မြတ်က ခွင့်ပြုတော်မူခြင်းမရှိသော "ဒီန်" သာသနာမျိုးကို ၎င်းတို့အဖို့ *သတ်မှတ်ပြဌာန်း၍ပေးခဲ့ကြသော တွဲဖက်(ကိုးကွယ်ရာ) များရှိကြသလော။* [၁] အမှန်စင်စစ်သော်ကား စီရင်ဆုံးဖြတ်ရန် အမိန့်တော်တစ်ရပ်သည် (ရှေးဦးမဆွက) မရှိခဲ့ပါလျှင် ၎င်းတို့အကြား၌ စီရင်ဆုံးဖြတ်ခဲ့ပြီး ဖြစ်မည်သာ။ သို့တစေလည်း မတရားသောသူတို့၌မူကား ပြင်းပြ နာကျင်ဖွယ်ဖြစ်သော ပြစ်ဒဏ်သည် ဧကန်မလွဲ ရှိချေအံ့သတည်း။

تَرَى ٱلظَّٰلِمِينَ مُشْفِقِينَ مِمَّا كَسَبُوا۟ وَهُوَ وَاقِعٌۢ بِهِمْ ۗ وَٱلَّذِينَ ءَامَنُوا۟ وَعَمِلُوا۟ ٱلصَّٰلِحَٰتِ فِى رَوْضَاتِ ٱلْجَنَّاتِ ۖ لَهُم مَّا يَشَآءُونَ عِندَ رَبِّهِمْ ۚ ذَٰلِكَ هُوَ ٱلْفَضْلُ ٱلْكَبِيرُ ﴿٢٢﴾

၂၂။ (အို–နဗီတမန်တော်) အသင်သည် မတရားသော သူတို့အား မိမိတို့၏ ဆည်းပူးချက်တို့ကြောင့် ထိတ်လန့်ကြောက်ရွံ့ စိုးရိမ်လျက် ရှိကြသည်ကို တွေ့မြင်ရပေမည်။ စင်စစ်သော်ကား ယင်းဆည်းပူးချက်တို့၏ဆိုးကျိုးမှာ ၎င်းတို့၌ ကျရောက်မည် ဖြစ်ပေသည်။ ထို့ပြင် "အီမာန်" သက်ဝင်ယုံကြည်၍ ကောင်းမြတ်သောအကျင့်သီလများကို ကျင့်မူဆောက်တည်ခဲ့ကြသောသူတို့မှာ "ဂျန္နတ်" သုခဘုံများ၏ဥယျာဉ်များ၌ ရှိကြပေမည်။ ၎င်းတို့အဖို့ ၎င်းတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်အထံတော်တွင် ၎င်းတို့အလိုရှိသမျှသောအရာများသည်ရှိကုန်၏။ ဤသည် ကြီးကျယ်လှစွာသော ကျေးဇူးတော်ပင် ဖြစ်ပေသတည်း။

---

(၁) အလ္လာဟ်အရှင်မြတ်သည် တမန်တော်များအား စေလွှတ်တော်မူ၍ နှစ်ဘဝ၏ ကောင်းကျိုးချမ်းသာကို ဆောင်ကြဉ်းသည့် သာသနာ့လမ်းစဉ်များကို ညွှန်ပြထားတော် မူပြီးဖြစ်သည်။ သို့ဖြစ်ရာ ထိုအရှင်မြတ်မှတပါး သာသနာ့လမ်းစဉ်တစ်ရပ်အဖြစ် သတ်မှတ်ပြဌာန်းနိုင်သူ အဘယ်သူရှိအံ့နည်း။ အလ္လာဟ်အရှင်မြတ်က (ဟလာလ်) တရားဝင်ဖြစ်သည်ဟူ၍ သတ်မှတ်ထားတော်မူသော အရာတစ်ခုကို (ဟရာမ်)တရားမဝင်ဟူ၍ အဘယ်သူသတ်မှတ်နိုင်အံ့နည်း။ အလ္လာဟ်အရှင်မြတ်နှင့် တွဲဖက်၍ မုရှ်ရစ်က်တို့ ဆည်းကပ်ကိုးကွယ်နေကြသော ၎င်းတို့၏ ကိုးကွယ်ရာများ၌ သာသနာ့လမ်းစဉ်အဖြစ် သတ်မှတ်ပြဌာန်းပိုင်သည့် အခွင့်အာဏာတစ်စုံတစ်ရာ ရှိပါသလော။ အလျှင်းမရှိ။ သို့ဖြစ်ရာ မုရှ်ရစ်က်များသည် တမန်တော်များ ဟောညွှန်ပြသခဲ့ကြသည့် အလ္လာဟ်အရှင်မြတ်၏ သာသနာ့လမ်းစဉ်များကို ကျော်ခိုင်းပြီး လမ်းစဉ်အသစ်များကို အဘယ်သို့လျှင်သတ်မှတ်နိုင်ကြအံ့နည်း။ ▷▷

ذٰلِكَ الَّذِىْ يُبَشِّرُ اللّٰهُ عِبَادَهُ
الَّذِيْنَ اٰمَنُوْا وَعَمِلُوا الصّٰلِحٰتِ ؕ
قُلْ لَّاۤ اَسْـَٔلُكُمْ عَلَيْهِ اَجْرًا اِلَّا
الْمَوَدَّةَ فِى الْقُرْبٰى ؕ وَمَنْ
يَّقْتَرِفْ حَسَنَةً نَّزِدْ لَهٗ فِيْهَا
حُسْنًا ؕ اِنَّ اللّٰهَ غَفُوْرٌ شَكُوْرٌ ﴿٢٣﴾

၂၃။ ဤသည်ပင် အလ္လာဟ်အရှင်မြတ်သည် မိမိ၏ အကြင်ကျွန်တို့အား ပြောကြားတော်မူသော ဝမ်းမြောက်ဖွယ်သတင်း ဖြစ်ပေသည်။ ထိုကျွန်တို့သည် "အီမာန်" သက်ဝင်ယုံကြည်ခဲ့ကြသည့်ပြင် ကောင်းမြတ်သော အကျင့်သီလများကိုလည်း ကျင့်မူဆောက်တည်ခဲ့ကြကုန်၏။

(အို-နဗီတမန်တော်) အသင်သည် (၎င်းတို့အား ဤသို့)ပြောကြားပါလေ။ (အချင်းတို့) ငါသည် အသင်တို့ထံ ဤ(တရားဓမ္မပို့ဆောင်မှု)နှင့်စပ်လျဉ်း၍ ဆွေမျိုး*သားချင်းတော်စပ်မှုကြောင့်ချစ်မြတ်နိုးခြင်းမှတစ်ပါး*[၁] မည်သည့် အကျိုးကိုမျှ တောင်းဆိုသည် မဟုတ်ပေ။ စင်စစ်သော်ကား မည်သူမဆို ကောင်းမှု တစ်စုံတစ်ရာကို ရှာဖွေဆည်းပူးသည်ရှိသော် ငါအရှင်မြတ်သည် ၎င်း၏အဖို့ ယင်းကောင်းမှု၌ ကောင်းမြတ်မှုကို တိုးပွားစေတော်မူအံ့။ စင်စစ်ဧကန် အလ္လာဟ်အရှင်မြတ်သည် အလွန်တရာ ခွင့်လွှတ်ချမ်းသာပေးတော်မူသောအရှင်၊ အလွန်တရာ ရက်ရောစွာ ကျေးဇူးတုံ့ပြန်တော်မူသော အရှင် ဖြစ်တော်မူ၏။

---

➤➤ လူသားတို့၏ အကျိုးအပြစ်များနှင့်စပ်လျဉ်း၍ နောက်ဆုံးအဆုံးအဖြတ်သည် ကိယာမတ်နေ့တွင် ဖြစ်မည်ဟူသော အဆုံးအဖြတ် တော်သာ မရှိခဲ့ပါက ယင်းမှရှ်ရစ်ကက်တို့၏ပြဿနာသည် ဤပစ္စက္ခ၌ပင် ရှင်းသွားပြီးဖြစ်ချိမ့်မည်။

(၁) အချို့က ဤအာယတ်တော်၌ လာရှိသော (မဝဒ္ဒတ် ဖိလ်ကုရ်ဗာ)၏ အလိုသဘောမှာ အသင်တို့သည် အချင်းချင်း ချစ်ကြည်မြတ်နိုးကြ၊ ဆွေမျိုးသားချင်းတော်စပ်မှုကို ထောက်ထားကြဟူ၍ အနက်ဖွင့်ကြပေသည်။

အချို့က (قربىٰ) "ကုရ်ဗာ"ဟူသည် အလ္လာဟ်အရှင်မြတ်နှင့်နီးစပ်မှုကို ဆိုလိုကြသည်။ (ဝါ) အလ္လာဟ်အရှင်မြတ်နှင့် နီးစပ်စေသော အကျင့်အမူများကို ချစ်မြတ်နိုးကြဟူ၍ အနက်ဖွင့်ကြပေသည်။

အချို့ပညာရှင်များက "မဝဒ္ဒတ် ဖိလ်ကုရ်ဗာ" ဟူသည် "အဟ်လိဗိုက်တိနဗီ" တမန်တော်မြတ်၏ အိမ်တော်သူ အိမ်တော်သားများအား ချစ်ကြည်မြတ်နိုးကြဟူ၍ အနက်ဖွင့်ကြသည်။

ဤအာယတ်တော်၏အဖွင့်နှင့် စပ်လျဉ်း၍ အိဗ်နုကဆီရ်ကျမ်း၊ အ-(၄)၊ စ-(၁၁၁-၁၁၄)တွင် အကျယ်တဝင့် ဖွင့်ဆိုရေးသားထားသည်။

أَمْ يَقُولُونَ افْتَرَىٰ عَلَى اللَّهِ كَذِبًا ۖ فَإِن يَشَإِ اللَّهُ يَخْتِمْ عَلَىٰ قَلْبِكَ ۗ وَيَمْحُ اللَّهُ الْبَاطِلَ وَيُحِقُّ الْحَقَّ بِكَلِمَاتِهِ ۚ إِنَّهُ عَلِيمٌ بِذَاتِ الصُّدُورِ ﴿٢٤﴾

၂၄။ ၎င်းတို့က ထို(မုဟမ္မဒ်)သည် အလ္လာဟ် အရှင်မြတ်အပေါ်၌ မုသားကို လီဆယ်စွပ်စွဲခဲ့သည်ဟု ပြောဆိုကြလေသလော။ သို့ဖြစ်လျှင် အကယ်၍ အလ္လာဟ်အရှင်မြတ်သည် အလိုရှိတော်မူပါလျှင် အသင်၏စိတ်နှလုံးပေါ်၌ တံဆိပ်ခတ်နှိပ်တော်မူပေမည်။

စင်စစ်သော်ကား အလ္လာဟ်အရှင်မြတ်သည် မိမိ၏အာယတ်တော်များဖြင့် အမှားကို ဖျောက်ဖျက်တော်မူ၍ အမှန်ကို အခိုင်အမာဖြစ်အောင် ပြုလုပ်တော်မူလေ့ရှိ၏။ ဧကန်မလွဲ ထိုအရှင်မြတ်သည် ရင်များ၏ အတွင်း၌ ရှိသည်များတို့ကို အကြွင်းမဲ့သိတော်မူသော အရှင် ဖြစ်တော်မူပေသတည်း။

وَهُوَ الَّذِي يَقْبَلُ التَّوْبَةَ عَنْ عِبَادِهِ وَيَعْفُو عَنِ السَّيِّئَاتِ وَيَعْلَمُ مَا تَفْعَلُونَ ﴿٢٥﴾

၂၅။ စင်စစ်သော်ကား ထိုအရှင်မြတ်သည် အကြင် အရှင်မြတ်ပင် ဖြစ်တော်မူ၏။ ထိုအရှင်မြတ်သည် မိမိ ကျွန်များ၏ဝန်ချတောင်းပန်ခြင်းကို လက်ခံတော်မူ၏။ ၎င်းပြင် ထိုအရှင်မြတ်သည် ပြစ်မှုဒုစရိုက်တို့ကို ခွင့်လွှတ် တော်မူ၏။ ထိုမှတစ်ပါး ထိုအရှင်မြတ်သည် အသင်တို့ ပြုလုပ်သမျှတို့ကို သိတော်မူ၏။ [၁]

---

(၁) တမန်တော်များ၏တာဝန်မှာ အလ္လာဟ်အရှင်မြတ်၏ ဒေသနာတော်များကို ဟောကြားရန်သာဖြစ်သည်။ လူသားတို့သည် တမန်တော်များ၏ တရားများကို နာခံကြသည်ဖြစ်စေ၊ သွေဖည်ကြသည်ဖြစ်စေ၊ ဤသည် တမန်တော်များနှင့်မဆိုင်။ တမန်တော်များ တရားဓမ္မဟောကြားကြပြီးနောက် လူသားတို့၏ အရေးကိစ္စအဝဝသည် အလ္လာဟ်အရှင်မြတ်နှင့်သာ သက်ဆိုင်ပေတော့သည်။ ထိုအရှင်မြတ်သည် လူသားတိုင်းအား ဤပစ္စက္ခတွင်လည်းကောင်း၊ နောင်တမလွန်ဘဝတွင်လည်းကောင်း၊ ၎င်း၏အခြေအနေ အရည်အချင်းနှင့် လျော်ညီစွာ စီမံခန့်ခွဲပေးတော်မူသည်။

ထိုအရှင်မြတ်သည် ဝန်ချတောင်းပန်သူ၏ တောင်းပန်မှုကို လက်ခံတော်မူသည်။ ထိုအရှင်မြတ်သည် အကြွင်းမဲ့ ဉာဏ်အလုံးစုံကို သိတော်မူပါလျက် မြောက်မြားစွာသောပြစ်မှုများကို ခွင့်လွှတ်တော်မူသည်။ ထိုအရှင်မြတ်သည် မိမိအား ယုံကြည်မြတ်နိုး၍ မိမိ၏ဒေသနာတော်များကို နာယူကျင့်မှုကြသော မုအ်မင်န် သူတော်စင်များ၏ ပန်ကြားချက်များကို လက်ခံဖြည့်စွမ်းပေးတော်မူသည်။ ချီးမြှင့်သင့်က ချီးမြှင့်အပ်သည်ထက် ပိုမို၍ပင် ချီးမြှင့်တော်မူသည်။

➢➢

وَيَسْتَجِيبُ الَّذِينَ آمَنُوا وَعَمِلُوا الصَّالِحَاتِ وَيَزِيدُهُم مِّن فَضْلِهِ ۚ وَالْكَافِرُونَ لَهُمْ عَذَابٌ شَدِيدٌ ﴿٢٦﴾

၂၆။ ထိုမှတစ်ပါး ထိုအရှင်မြတ်သည် "အီမာန်" သက်ဝင်ယုံကြည်၍ ကောင်းမြတ်သော အကျင့်သီလများကို ကျင့်မူ ဆောက်တည်ကြကုန်သော သူတို့၏ ဆုတောင်းပတ္ထနာပြုချက်ကို သဘောတူ လက်ခံတော်မူ၏။ ထို့ပြင် ၎င်းတို့အား မိမိကျေးဇူးတော်ဖြင့် တိုး၍ပင် ချီးမြှင့်ပေးသနားတော်မူ၏။ သို့ရာတွင် "ကာဖိရ်" သွေဖည် ငြင်းပယ်သောသူတို့၌မူ ပြင်းထန်လှစွာသော ပြစ်ဒဏ်သည် ရှိချေမည်။

وَلَوْ بَسَطَ اللَّهُ الرِّزْقَ لِعِبَادِهِ لَبَغَوْا فِي الْأَرْضِ وَلَٰكِن يُنَزِّلُ بِقَدَرٍ مَّا يَشَاءُ ۚ إِنَّهُ بِعِبَادِهِ خَبِيرٌ بَصِيرٌ ﴿٢٧﴾

၂၇။ စင်စစ်မှာကား အကယ်၍သာ အလ္လာဟ်အရှင်မြတ်သည် မိမိကျွန်(အပေါင်း)တို့အား စားနပ်ရိက္ခာကို ကျယ်ဝန်းပေါများစွာ ချီးမြှင့်တော်မူခဲ့ပါလျှင် အမှန်ပင် ထိုကျွန်(အပေါင်း)တို့သည် ကမ္ဘာမြေဝယ် ဆိုးသွမ်းသောင်းကျန်းခဲ့ကြမည်သာ။ သို့ရာတွင် အရှင်မြတ်သည် (စားနပ်ရိက္ခာကို တဖြည်းဖြည်း) မိမိအလိုရှိတော်မူသောအတိုင်းအတာနှင့်အမျှ ချပေးတော်မူ၏။ စင်စစ်ဧကန် ထိုအရှင်မြတ်သည် မိမိကျွန်အပေါင်းတို့နှင့် ပတ်သက်၍ ကောင်းစွာသိတော်မူသောအရှင်၊ ကောင်းစွာ မြင်တော်မူသောအရှင် ဖြစ်တော်မူ၏။ [1]

---

➢➢ သို့ရာတွင် အကြင်ကာဖိရ်၊ မုရှ်ရစ်က်များသည် ထိုအရှင်မြတ်ထံတော်၌ အချိန်မီ ဝန်ချတောင်းပန်ကြသည် မရှိသည့်အပြင်၊ အသက်ထက်ဆုံး ကုဖ်ရ်၊ ရှရစ်က် အမှုများ၌ပင် နစ်မွန်းနေကြပါသော်၊ ယင်းသို့သော ကာဖိရ်၊ မုရှ်ရစ်က်တို့မှာမူကား ကြီးလေးသောပြစ်ဒဏ်ကို အမှန်ခံစားကြရပေမည်သာတည်း။

(၁) အလ္လာဟ်အရှင်မြတ်၏ ဘဏ္ဍာတော်များတွင် တစ်စုံတစ်ရာ လျော့နည်းသည်ဟူ၍မရှိ။ ထိုအရှင်မြတ်သည် အလိုတော်ရှိပါက လူသားအားလုံးတို့အား ဥစ္စာခနကြွယ်ဝသူများ ပြုလုပ်တော်မူနိုင်သည်။ သို့ပြုလုပ်တော်မူပါက လူသားတို့သည် လောကီစည်းစိမ်များတွင် အနစ်မွန်းကြီး နစ်မွန်းပြီး၊ အလ္လာဟ်အရှင်မြတ်အားလည်း ကြောက်ရွံ့ရိုသေ ခန့်ညားကြမည်မဟုတ်။ လူအချင်းချင်းလည်း လေးစားကြမည်မဟုတ်၊ မိုခိုကြမည်မဟုတ်။ မနေဂုဏ်မောက်ကာ မောက်မာပလွှား ဝါကြွားလာကြပေမည်။ တစ်ဦးနှင့်တစ်ဦး ပြိုင်လာကြပေမည်။ သူ့ထက်ငါ ကြီးလာကြပေမည်။ နောက်ဆုံးတွင် ဆူပူသောင်းကျန်း လာကြပေမည်။

အလ္လာဟ်အရှင်မြတ်သည် လူသားတို့ကို စတင်ဖန်ဆင်းတော်မူသော အရှင်ဖြစ်တော်မူသည်။ လူ၏အကြောင်းကို စ-လယ်-ဆုံး အတိအကျအပြည့်အဝ သိတော်မူသည်။ ထို့အတွက်ကြောင့် ➢➢

وَهُوَ الَّذِىۡ يُنَزِّلُ الۡغَيۡثَ مِنۡۢ بَعۡدِ مَا قَنَطُوۡا وَيَنۡشُرُ رَحۡمَتَهٗ ؕ وَهُوَ الۡوَلِىُّ الۡحَمِيۡدُ ﴿۲۸﴾

၂၈။ ထိုမှတစ်ပါး ထိုအရှင်မြတ်သည်ပင် လူတို့မျှော်လင့်ချက်ကင်းခဲ့ကြသည့်နောက်တွင် မိုးရေကို ရွာသွန်းစေတော်မူ၏။ ထို့ပြင် မိမိကရုဏာတော်ကို ပြန့်စေတော်မူ၏။ စင်စစ်မှာကား ထိုအရှင်မြတ်သည် ကိစ္စအဝဝကို ပြီးစီးအောင် ဆောင်ရွက်ပေးတော်မူသော အရှင်၊ ချီးမွမ်းအပ်သည့် အထူးထူးသော ဂုဏ်၊ ဝိသေသအပေါင်းတို့နှင့် ပြည့်စုံတော်မူသောအရှင် ဖြစ်တော်မူပေသတည်း။

وَمِنۡ اٰيٰتِهٖ خَلۡقُ السَّمٰوٰتِ وَالۡاَرۡضِ وَمَا بَثَّ فِيۡهِمَا مِنۡ دَآبَّةٍ ؕ وَهُوَ عَلٰى جَمۡعِهِمۡ اِذَا يَشَآءُ قَدِيۡرٌ ﴿۲۹﴾

၂၉။ ၎င်းပြင် ထိုအရှင်မြတ်၏ သက်သေလက္ခဏာတော်တို့အနက် အပါအဝင်ဖြစ်၏။ မိုးကောင်းကင်များကို ဖန်ဆင်းတော်မူခြင်းသည်လည်းကောင်း၊ ပထဝီမြေကို ဖန်ဆင်းတော်မူခြင်းသည်လည်းကောင်း၊ ယင်း *မိုးကောင်းကင်များနှင့် ပထဝီမြေနှစ်ခုလုံး၌ ဖြန့်ထားတော်မူသော သက်ရှိအပေါင်းတို့အား* ① ဖန်ဆင်းတော်မူခြင်းသည်လည်းကောင်း၊ ထိုမှတစ်ပါး ထိုအရှင်မြတ်သည် မိမိအလိုရှိတော်မူသောအခါ ၎င်းတို့အား စုရုံးခြင်းကိုလည်းကောင်း၊ ပြုစွမ်းနိုင်တော်မူသောအရှင် ဖြစ်တော်မူ၏။

---

➤➤ အလ္လာဟ်အရှင်မြတ်သည် လူသားအားလုံးတို့အား ကြွယ်ဝသူများ ပြုလုပ်တော်မမူဘဲ၊ ပတ်ဝန်းကျင်အခြေအနေ အရည်အချင်းအလိုက် ထိုက်တန်သူအား ထိုက်သည့်အားလျော်စွာ အချင့်အချိန် အတိုင်းအတာနှင့် ပေးထားတော် မူခြင်းဖြစ်သည်။ အလ္လာဟ်အရှင်မြတ်သည် အလုံးစုံကို သိကြားသိမြင်တော်မူသော ဉာဏ်တော်ရှင်ဖြစ်တော်မူသည်။ လူသားတို့၏ အကြောင်းကို အကြွင်းမဲ့သိတော်မူသည်။ မြင်တော်မူသည်။ မည်သူ့အား မည်မျှ ချီးမြှင့်ထိုက်သည်ကို ထိုအရှင်မြတ်သည် အသိဆုံး ဖြစ်တော်မူသည်။

① **မိုးကောင်းကင်တွင် သက်ရှိ ရှိသည်။**

အလ္လာဟ်အရှင်မြတ်သည် ပထဝီမြေကြီးနှင့်မိုးကောင်းကင်များကို ဖန်ဆင်းထားတော်မူသည်။ ထိုပထဝီမြေကြီးနှင့် မိုးကောင်းကင်များတွင် သက်ရှိ သတ္တဝါများကိုလည်း အံ့ဖွယ်သရဲ ပြန့်ပွားစေတော်မူထားသည်။ ထိုအရှင်မြတ်သည် မိမိပြန့်ပွားစေထားတော်မူသော သက်ရှိသတ္တဝါအပေါင်းတို့ကို အလိုတော်ရှိတော်မူသည့်အခါ ပြန်လည် စုပေါင်းတော်မူနိုင်သည်။ ဤသည် ထိုအရှင်မြတ်၏ သက်သေလက္ခဏာတော် တစ်ပါးပင်။ ဤအာယတ်တော်ကို ထောက်ရှုခြင်းအားဖြင့် ပထဝီမြေ၌ သက်ရှိသတ္တဝါများရှိသကဲ့သို့ မိုးကောင်းကင်များတွင်လည်း သက်ရှိသတ္တဝါများရှိကြောင်း ကောင်းစွာသိရှိနိုင်ပေသည်။

وَمَآ أَصَابَكُم مِّن مُّصِيبَةٍ فَبِمَا كَسَبَتْ أَيْدِيكُمْ وَيَعْفُوا۟ عَن كَثِيرٍ ﴿٣٠﴾

၃၀။ စင်စစ်သော်ကား အသင်တို့၌ သက်ရောက်လေ့ရှိသော ဘေးဒုက္ခဟူသရွေ့သည် အသင်တို့၏ လက်များက ဆည်းပူးခဲ့ကြသော အပြုအမူတို့ကြောင့်ပင် သက်ရောက်ခဲ့သည်သာ။ ထိုမှတစ်ပါး ထိုအရှင်မြတ်သည် များစွာသောပြစ်မှုများကိုမူကား ခွင့်လွှတ်တော်မူ၏။ [၁]

وَمَآ أَنتُم بِمُعْجِزِينَ فِى ٱلْأَرْضِ ۖ وَمَا لَكُم مِّن دُونِ ٱللَّهِ مِن وَلِىٍّ وَلَا نَصِيرٍ ﴿٣١﴾

၃၁။ ၎င်းပြင် အသင်တို့သည် ထို(အရှင်မြတ်အား) ကမ္ဘာမြေ၏ မည်သည့်အစိတ်အပိုင်း မည်သည့်နေရာ၌ (မျှပင်) မတတ်စွမ်းနိုင်အောင် ပြုစွမ်းနိုင်ကြသူများ မဟုတ်ပေ။ ထိုမှတစ်ပါး အသင်တို့၌ အလ္လာဟ်အရှင်မြတ်အပြင် ကာကွယ် စောင့်ရှောက်အံ့သောသူ ဟူ၍လည်း အလျှင်းမရှိပြီ။ ကူညီစောင်မအံ့သောသူ ဟူ၍လည်း အလျှင်း မရှိပြီတကား။

وَمِنْ ءَايَٰتِهِ ٱلْجَوَارِ فِى ٱلْبَحْرِ كَٱلْأَعْلَٰمِ ﴿٣٢﴾

၃၂။ ထိုမှတစ်ပါး သမုဒ္ဒရာပင်လယ်၌ တောင်များပမာ (လှုပ်ရှားသွားလာလျက် ရှိနေကြသော) ရွက်သင်္ဘောများမှာလည်း ထိုအရှင်မြတ်၏ သက်သေလက္ခဏာတော်တို့တွင် အပါအဝင် ဖြစ်ကြကုန်၏။

---

(၁) လူ့လောကတွင် ဒုက္ခကြီးငယ်များ ဆိုက်ရောက်နေခြင်းမှာ အကြောင်းမဲ့မဟုတ်။ လူသားတို့၏ အချို့အပြုအမူများ ကြောင့်သာလျှင် ဖြစ်သည်။ လူတစ်ယောက်သည် အစားမဆင်ခြင်လျှင် ဖျားနာတတ်သည်။ တစ်ခါတစ်ရံ အသက်ကိုပင် အန္တရာယ်ဖြစ်စေတတ်သည်။ မိခင်သည် အစားမဆင်ခြင်လျှင် ကလေးဒုက္ခဖြစ်သည်။ တစ်ခါတစ်ရံ ရွာသူရွာသားများ၏ မဆင်ခြင်မှုကြောင့် တစ်ရွာလုံး၊တစ်မြို့လုံး ဒုက္ခဖြစ်ရသည်။ ရုပ်လောကတွင် မဆင်ခြင်လျှင် ဒုက္ခဖြစ်ရသကဲ့သို့ နာမ်လောကတွင်လည်း မဆင်ခြင်လျှင် ဒုက္ခဖြစ်ရမည်။ အချုပ်ဆိုရသော် လူ့လောကတွင် ဆိုက်ရောက်သမျှသော ဒုက္ခများသည် လူသားတို့၏ အပြုအမူများ၏ အကျိုးဆက်သာလျှင် ဖြစ်ပေသည်။

လူ့လောကတွင် ဆိုက်ရောက်နေသော ဒုက္ခများသည် အကုန်အစင်မဟုတ်သေးချေ။ အဘယ်ကြောင့်ဆိုသော် အလ္လာဟ်အရှင်မြတ်သည် လူသားတို့၏ များစွာသော အပြစ်များကို ချမ်းသာခွင့် ပြုထားတော်မူသည်။ လူသားတို့အား အပြစ်ရှိသည်နှင့်အမျှ အလ္လာဟ်အရှင်မြတ် အရေးယူတော်မူပါက ဤကမ္ဘာတွင် သက်ရှိသတ္တဝါတစ်ဦးမျှပင် ကျန်ရှိမည်မဟုတ်ပေ။ ကြည့်-ကုရ်အာန် (၃၅:၄၅)။

إِنْ يَشَأْ يُسْكِنِ الرِّيحَ فَيَظْلَلْنَ رَوَاكِدَ عَلَىٰ ظَهْرِهِ ۚ إِنَّ فِي ذَٰلِكَ لَآيَاتٍ لِكُلِّ صَبَّارٍ شَكُورٍ ﴿٣٣﴾

၃၃။ အကယ်၍ ထိုအရှင်မြတ်သည် အလိုရှိတော်မူပါလျှင် လေကိုငြိမ်သက်စေတော်မူမည်သာ။ ထိုအခါ ယင်းသင်္ဘောမှာ သွားလာလှုပ်ရှားနိုင်ခြင်း မရှိတော့ဘဲ၊ သမုဒ္ဒရာပင်လယ်၏ မျက်နှာပြင်ဝယ် ရပ်တန့်လျက်ပင် *ရှိနေကြပေမည်*။ [၁] ဧကန်မလွဲ ဤတွင် အလွန်တရာ ကျေးဇူးသိတတ်သော၊ အလွန်တရာ သည်းခံတရား ရှိသူတိုင်းအဖို့ အမှန်ပင် သက်သေလက္ခဏာများ ရှိကြကုန်၏။

أَوْ يُوبِقْهُنَّ بِمَا كَسَبُوا وَيَعْفُ عَنْ كَثِيرٍ ﴿٣٤﴾

၃၄။ သို့တည်းမဟုတ် ထိုအရှင်မြတ်သည် (အလိုရှိတော်မူပါလျှင်) ထိုသင်္ဘော(သား)တို့အား ၎င်းတို့၏ ပြုမူဆည်းပူးချက်တို့ကြောင့် ဖျက်ဆီးတော်မူပေမည်။ သို့တစေလည်း ထိုအရှင်မြတ်သည် များစွာတို့အား ခွင့်လွှတ်တော်မူလေ့ရှိ၏။

وَيَعْلَمَ الَّذِينَ يُجَادِلُونَ فِي آيَاتِنَا مَا لَهُمْ مِنْ مَحِيصٍ ﴿٣٥﴾

၃၅။ ငါအရှင်မြတ်၏အာယတ်တော်များ၌ အငြင်းပွားလေ့ရှိကြသောသူတို့သည် မိမိတို့၌ ထွက်ပြေးလွတ်မြောက်ရာဟူ၍ အလျှင်းမရှိတော့ပြီဟု သိရှိကြအံ့သောငှာ၊

فَمَا أُوتِيتُمْ مِنْ شَيْءٍ فَمَتَاعُ

၃၆။ မည်သို့ပင်ဖြစ်စေ အသင်တို့ ပေးသနားတော်မူခြင်းခံခဲ့ကြရသော ဥစ္စာပစ္စည်းဟူသမျှတို့သည် လောကီဘဝ၏ အသုံးအဆောင်ပစ္စည်းမျှသာ ဖြစ်ကုန်၏။

---

(၁) လေ၏တိုက်ခတ်မှုမှာ အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်ပင် လေ၏တိုက်ခတ်မှုကို အကြောင်းပြု၍ လူသားတို့သည် အကျိုးအမျိုးမျိုး ခံစားနေကြပေသည်။ သမုဒ္ဒရာရေပြင်တွင် သွားလာလှုပ်ရှားနေသော ရေယာဉ်များနှင့် ကောင်းကင်တွင် ပျံသန်းသွားလာနေသော လေယာဉ်များသည် လေ၏အကျိုးပင်။

အလ္လာဟ်အရှင်မြတ် အလိုတော်ရှိပါက ယင်းသည့်လေကိုလည်း တိုက်ခတ်ခြင်းမှ ရပ်တန့်ငြိမ်သက်သွားအောင် ပြုလုပ်နိုင်ပေသည်။ သို့လေကို ရပ်တန့်ငြိမ်သက်အောင် ပြုလုပ်ထားတော်မူလိုက်ပါက လက်ရှိသွားလာလှုပ်ရှားနေသော ရေယာဉ်များနှင့် လေယာဉ်များသည် ရပ်ဆိုင်းသွားကြပေမည်။

ဆိုလိုသည်ကား ရေ၊လေနှင့်တကွ စကြာဝဠာကြီးတစ်ခုလုံးသည် အလ္လာဟ်အရှင်မြတ်၏ လက်တော်အတွင်း၌သာရှိပေသည်။

الْحَيٰوةِ الدُّنْيَا ۚ وَمَا عِنْدَ اللّٰهِ خَيْرٌ وَّأَبْقٰى لِلَّذِيْنَ اٰمَنُوْا وَعَلٰى رَبِّهِمْ يَتَوَكَّلُوْنَ ﴿٣٦﴾

သို့ရာတွင် အလ္လာဟ်အရှင်မြတ်ထံတော်၌ ရှိသမျှတို့မှာမူကား အကောင်းဆုံး၊ အမြဲဆုံးပင်ဖြစ်ကုန်၏။ (ယင်းတို့မှာ) အကြင်သူတို့အဖို့ဖြစ်၏။ ထိုသူတို့သည် "အီမာန်" သက်ဝင်ယုံကြည်ခဲ့ကြသည့်ပြင် မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်အပေါ်၌ ယုံကြည်ကိုးစား အားထားကြကုန်၏။

وَالَّذِيْنَ يَجْتَنِبُوْنَ كَبٰٓئِرَ الْإِثْمِ وَالْفَوَاحِشَ وَإِذَا مَا غَضِبُوْا هُمْ يَغْفِرُوْنَ ﴿٣٧﴾

၃၇။ ၎င်းပြင် အကြင်သူတို့အဖို့ဖြစ်၏။ ထိုသူတို့သည် ကြီးလေးသော ပြစ်မှုဒုစရိုက်တို့မှလည်းကောင်း၊ ညစ်ညမ်းသော အမှုကိစ္စတို့မှလည်းကောင်း ကြဉ်ရှောင်ကြကုန်၏။ ထိုမှတစ်ပါး ၎င်းတို့သည် မည်သည့်အခါမျိုးမဆို ဒေါသအမျက်ထွက်ကြသည်ရှိသော် ခွင့်လွှတ်လေ့ရှိကြကုန်၏။

وَالَّذِيْنَ اسْتَجَابُوْا لِرَبِّهِمْ وَأَقَامُوا الصَّلٰوةَ ۖ وَأَمْرُهُمْ شُوْرٰى بَيْنَهُمْ ۖ وَمِمَّا رَزَقْنٰهُمْ يُنْفِقُوْنَ ﴿٣٨﴾

၃၈။ ၎င်းပြင် အကြင်သူတို့အဖို့ဖြစ်၏။ ထိုသူတို့သည် မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်(၏ ဖိတ်ခေါ်ချက်၊ အမိန့်တော်)ကို နာယူကြကုန်၏။ ထို့ပြင် ၎င်းတို့သည် "ဆွလာတ်" ဝတ်ပြုမှုကို ဆောက်တည်ကြကုန်၏။ ထိုမှတစ်ပါး ၎င်းတို့၏ (အရေးကြီးသော) အမှုကိစ္စတို့မှာ မိမိတို့အချင်းချင်း ညှိနှိုင်းတိုင်ပင်၍ ဆောင်ရွက်ကြရကုန်၏။ ထိုမှတစ်ပါး ၎င်းတို့သည် ငါအရှင်မြတ် ၎င်းတို့အား ချီးမြှင့် ပေးသနားတော်မူသော ဥစ္စာပစ္စည်းများမှ သုံးစွဲလှူဒါန်းကြကုန်၏။

وَالَّذِيْنَ إِذَآ أَصَابَهُمُ الْبَغْيُ هُمْ يَنْتَصِرُوْنَ ﴿٣٩﴾

၃၉။ ထိုမှတစ်ပါး အကြင်သူတို့အဖို့ဖြစ်၏။ ထိုသူတို့သည် မတရားသဖြင့် နှိပ်စက်မှုကို ခံကြရသောအခါ ၎င်းတို့သည် မိမိတို့ခံကြရသည်နှင့်အမျှ လက်စားချေလေ့ရှိကြကုန်သတည်း။[၁]

---

(၁) အမတသုခကို ခံစားကြမည့် ပုဂ္ဂိုလ်မွန်တို့၏ ဂုဏ်ရည်များ၊

အထက်တွင်ဖော်ပြပါ ဒေသနာတော်များကို ကြားနာရပြီးနောက်ပိုင်းတွင် လူသားတို့သည် ➢➢

وَجَزٰٓؤُا سَيِّئَةٍ سَيِّئَةٌ مِّثْلُهَا ۚ فَمَنْ عَفَا وَاَصْلَحَ فَاَجْرُهٗ عَلَى اللّٰهِ ؕ اِنَّهٗ لَا يُحِبُّ الظّٰلِمِيْنَ ۝٤٠

၄၀။ စင်စစ်သော်ကား မကောင်းပြုခြင်း၏အစား ယင်းမကောင်းပြုခြင်းနှင့် အညီအမျှ မကောင်းပြုခြင်း ပင်။ သို့တစေလည်း မည်သူမဆို ခွင့်လွှတ်ခဲ့ပါမူ ၎င်းပြင် (မိမိတို့အချင်းချင်း၏ အရေးကိစ္စများကို ပြေလည်)ကောင်းမွန်အောင် ပြုပြင်ခဲ့ပါမူ ထိုသူအား အကျိုးပေးခြင်းမှာ အလ္လာဟ်အရှင်မြတ်၏ တာဝန်ပင် ဖြစ်၏။ ကေန်မလွဲ ထိုအရှင်မြတ်သည် မတရားသော သူတို့အား နှစ်မြို့တော်မူသည် မဟုတ်ပေ။ ၁

---

➤➤ အလ္လာဟ်အရှင်မြတ်၏ ကျေနပ်နှစ်သက်မှုကို ရရှိရန် ကြိုးစားသင့်ကြပေသည်။ သခ်ါရမျှသာဖြစ်သော ဤပစ္စက္ခ၏ စည်းစိမ်များတွင် နစ်မွန်း၍ မနေသင့်ကြပေ။ လူသားတို့သည် ကောင်းကောင်းကြီး သိထားအပ်သည်မှာ အလ္လာဟ်အရှင်မြတ် ထံတော်၌ရှိသော သုခချမ်းသာများသည် လောကီစည်းစိမ်များနှင့်မတူ၊ အဘက်ဘက်မှ ထူးသည်၊ သာသည်၊ မြတ်သည်၊ အမတဖြစ်သည်။

ယင်းသည့် အမတသုခများကို ခံစားကြရမည့် ပုဂ္ဂိုလ်မွန်ပုဂ္ဂိုလ်မြတ်တို့၏ ဂုဏ်ရည်များမှာ-

(၁) အလ္လာဟ်အရှင်မြတ်အား ယုံကြည်ကြခြင်း။

(၂) အရေးကိစ္စအဝဝတွင် မိမိတို့၏ အရှင်မြတ်အပေါ်၌ ယုံပုံကိုးစားကြခြင်း။

(၃) ကြီးလေးသောပြစ်မှုများ၊ ညစ်ညမ်းသောအမှုများမှ ဝေးစွာရှောင်ကြဉ်ကြခြင်း။

(၄) ဒေါသအမျက်ထွက်ကြသည့်အခါ ခွင့်လွှတ်ကြခြင်း။

(၅) အခါခပ်သိမ်း မိမိတို့ အရှင်မြတ်၏ အမိန့်တော်ကို နာခံကြခြင်း။

(၆) ဆွလာတ်ဝတ်ပြုကြခြင်း။

(၇) အရေးကြီးသောကိစ္စများကို ဆောင်ရွက်ရာတွင် အချင်းချင်းတိုင်ပင်ဆွေးနွေးကြခြင်း။

(၈) အလ္လာဟ်အရှင်မြတ်က မိမိတို့အားချီးမြှင့်ထားတော်မူသော အရာများအနက် အချို့တဝက်ကို သုံးစွဲလှူဒါန်းကြခြင်းနှင့်၊

(၉) သူတပါးတို့အား အမြဲတစေ ခွင့်လွှတ်လေ့ရှိကြသော်လည်း တုံ့ပြန်လက်စားချေသင့်က လက်စားချေကြခြင်း၊

ဤသည်တို့ကား နောင်တမလွန်ဘဝတွင် အလ္လာဟ်အရှင်မြတ်၏ အမတသုခများကို ခံစားကြမည့် ပုဂ္ဂိုလ်မွန်တို့၏ အချို့ဂုဏ်ရည်များတည်း။

① အဆိုး၏အစားသည် အဆိုးပင်ဖြစ်သည်။ ဥပမာ- မောင်နက်သည် မောင်ဖြူအပေါ်၌ အဆိုးပြု၏။ မောင်ဖြူသည် တုံ့ပြန်သည့်အနေဖြင့် မိမိအပြုခံရသော အဆိုးနှင့်အမျှ အဆိုးပြုပိုင်သည်။ တရားသဖြင့် တုံ့ပြန် လက်စားချေပိုင်ခွင့်ရှိသည်။ သို့တုံ့ပြန် လက်စားချေပိုင်ခွင့်ရှိသော်လည်း ခွင့်လွှတ်ပါက ပြဿနာကို ပြေလည်ကောင်းမွန်စေပါက ထိုသို့သော ပုဂ္ဂိုလ်မွန်တို့အား အလ္လာဟ်အရှင်မြတ်သည် မုချ ကောင်းကျိုး ပေးသနားတော် မူမည်သာဖြစ်သည်။

وَلَمَنِ انْتَصَرَ بَعْدَ ظُلْمِهٖ فَاُولٰٓئِكَ مَا عَلَيْهِمْ مِّنْ سَبِيْلٍ ﴿٤١﴾

၄၁။ သို့ရာတွင် မည်သူမဆို မိမိမတရားနှိပ်စက်ခြင်း ခံခဲ့ရပြီးနောက် (ယင်းခံစားခဲ့ရသည်နှင့်အညီအမျှ) လက်စားချေခဲ့သည်ရှိသော် ထိုကဲ့သို့သောသူတို့အပေါ်၌ အပြစ်တင်ရန်နည်းလမ်းဟူ၍ အလျှင်းမရှိတော့ပေ။ [၁]

اِنَّمَا السَّبِيْلُ عَلَى الَّذِيْنَ يَظْلِمُوْنَ النَّاسَ وَيَبْغُوْنَ فِى الْاَرْضِ بِغَيْرِ الْحَقِّ ۗ اُولٰٓئِكَ لَهُمْ عَذَابٌ اَلِيْمٌ ﴿٤٢﴾

၄၂။ အပြစ်တင်ရန်နည်းလမ်းမှာကား လူတို့အပေါ်၌ နှိပ်စက်ကြသော တိုင်းပြည်၌ မတရားသဖြင့် ဆူပူ သောင်းကျန်း ဆိုးသွမ်းကြသော သူတို့အပေါ်၌သာလျှင် ရှိပေသည်။ ယင်းကဲ့သို့သောသူတို့၌ နာကျင်ဖွယ်ဖြစ်သော ပြစ်ဒဏ်သည်ရှိချေမည်။ [၂]

وَلَمَنْ صَبَرَ وَغَفَرَ اِنَّ ذٰلِكَ لَمِنْ عَزْمِ الْاُمُوْرِ ﴿٤٣﴾

၄၃။ သို့ရာတွင် မည်သူမဆို သည်းခံခြင်းကိုလည်းကောင်း၊ ခွင့်လွှတ်ခြင်းကိုလည်းကောင်း၊ ပြုခဲ့ပါလျှင် ဧကန်မလွဲ ဤသို့ပြုလုပ်ခြင်းကား သတ္တိနှင့်သက်ဆိုင်သော အမှုကိစ္စတို့တွင် အမှန်ပင် အပါအဝင်ဖြစ်ချေသတည်း။ [၃]

---

(၁) ကျူးကျော်စော်ကားခြင်း ခံရသူတစ်ဦးသည် မိမိအားကျူးကျော် စော်ကားသူတစ်ဦးအား တုံ့ပြန်သည့်အနေဖြင့် လက်စားချေပိုင်ခွင့်ရှိသည်။ ယင်းသည့် လက်စားချေခြင်းမှာ-တစ်စုံတစ်ရာ အပြစ်ဆိုဖွယ်ရာမရှိ။ သို့ပင်တစေ ခွင့်လွှတ်ခြင်းသည် ပို၍ကောင်းသည်။ မြတ်သည်။

(၂) အချို့သူများသည် ကမ္ဘာမြေတွင် မတရားသဖြင့် စတင် ကျူးကျော် စော်ကားကြသည်။ ဆူပူ သောင်းကျန်းကြသည်။ သို့တည်းမဟုတ် လက်စားချေရာတွင် စည်းကမ်း လွန်ကဲလာကြသည်။ ထိုသို့သောသူများ၏ အပြုအမူများသာလျှင် အပြစ်ဆိုဖွယ်ရာ ဖြစ်သည်။ ထိုသို့သောသူများသည် ကြီးလေးသော ပြစ်ဒဏ်ခံကြရမည် ဖြစ်သည်။

(၃) ဒေါသကို ချုပ်တည်းထားနိုင်ခြင်း၊ နှိပ်စက်ညှဉ်းပန်းမှုများကို သည်းခံ၍ ကျူးကျော်စော်ကားသူအား ခွင့်လွှတ်နိုင်ခြင်းသည် အလွန်ကြီးမားသော ရဲစွမ်းသတ္တိပင်။ အစိဗ္ဗာန်ပါရမီပင်။ တမန်တော်မြတ်၏ ဩဝါဒတော်များတွင် လာရှိသည်မှာ အကြင်သူတစ်ဦးသည် မတရားကျူးကျော် စော်ကားခြင်းခံရအံ့။ တုံ့ပြန်လက်စားချေ နိုင်ပါလျက် အလ္လာဟ်အရှင်မြတ်အတွက် သက်သက် ခွင့်လွှတ်အံ့။ အလ္လာဟ်အရှင်မြတ်သည် မုချ ထိုသူအား ဂုဏ်သိရ် ချီးမြှင့်တော်မူအံ့။ ကူညီရိုင်းပင်းတော်မူအံ့။

وَمَن يُضْلِلِ اللَّهُ فَمَا لَهُ مِن وَلِيٍّ مِّن بَعْدِهِ وَتَرَى الظَّالِمِينَ لَمَّا رَأَوُا الْعَذَابَ يَقُولُونَ هَلْ إِلَى مَرَدٍّ مِّن سَبِيلٍ ﴿٤٤﴾

၄၄။ စင်စစ်သော်ကား အကြင်သူအား အလ္လာဟ် အရှင်မြတ်သည် လမ်းမှား၌ပင် ရှိစေတော်မူပါလျှင် ထိုသူ၏အဖို့ ထိုအရှင်မြတ်မှတစ်ပါး (ဤပစ္စက္ခတွင် လည်း) အများကိုပြုပြင်၍ ပေးအံ့သောသူဟူ၍ အလျှင်း မရှိတော့ပြီ။ ထိုမှတစ်ပါး (အို-နဗီတမန်တော် နောင် တမလွန်ဘဝတွင်လည်း) အသင်သည် မတရားသော သူတို့အား ၎င်းတို့သည် ပြစ်ဒဏ်ကို တွေ့မြင်ကြ သောအခါ "(ကမ္ဘာလောကသို့) ပြန်သွားရန် နည်းလမ်း တစ်စုံတစ်ရာ ရှိပါသလော"ဟု ပြောဆိုနေကြမည်ကို တွေ့မြင်ရပေမည်။

وَتَرَاهُمْ يُعْرَضُونَ عَلَيْهَا خَاشِعِينَ مِنَ الذُّلِّ يَنظُرُونَ مِن طَرْفٍ خَفِيٍّ ۗ وَقَالَ الَّذِينَ آمَنُوا إِنَّ الْخَاسِرِينَ الَّذِينَ خَسِرُوا أَنفُسَهُمْ وَأَهْلِيهِمْ يَوْمَ الْقِيَامَةِ ۗ أَلَا إِنَّ الظَّالِمِينَ فِي عَذَابٍ مُّقِيمٍ ﴿٤٥﴾

၄၅။ ထိုမှတစ်ပါး အသင်သည် ထိုသူတို့အား ယင်း ငရဲမီးရှေ့ဝယ် အရှက်တကွ အကျိုးနည်းမှုကြောင့် အောက်ကျို့လျက် ယူဆောင်လာစေခြင်း ခံကြရသည် ကို တွေ့မြင်ပေမည်။ ၎င်းတို့မှာ (ရဲရဲမကြည့်ဝံ့ကြဘဲ) ခိုးဝှက်စွာ ကြည့်နေကြပေမည်။ ၎င်းပြင် "မုအ်မင်န်" သက်ဝင်ယုံကြည်သူတို့သည် (ဤသို့) ပြောဆိုကြ ပေမည်။

အမှန်စင်စစ် "ကိယာမတ်"ရှင်ပြန်ထမည့်နေ့တွင် မိမိတို့နှင့်တကွ မိမိတို့နှင့်ပတ်သက်သော သူများကို ပါ ဆုံးရှုံး ပျက်စီးစေသူတို့သာလျှင် ပျက်စီးဆုံးရှုံးသူ (အစစ်အမှန်)များဖြစ်ကုန်၏။ သတိထားကြလေကုန်။ ဧကန်မလွဲ မတရားသောသူတို့သည် အမြဲထာဝရ ခံကြအံ့သော ပြစ်ဒဏ်၌ ရှိကြပေမည်။

وَمَا كَانَ لَهُم مِّنْ أَوْلِيَاءَ يَنصُرُونَهُم مِّن دُونِ اللَّهِ ۗ

၄၆။ ထိုမှတစ်ပါး အလ္လာဟ်အရှင်မြတ်မှလွဲ၍ ၎င်း တို့အား ကူညီစောင်မကြအံ့သော ကာကွယ်စောင့်ရှောက် မည့်သူများဟူ၍လည်း ၎င်းတို့၌ရှိကြမည်မဟုတ်ပေ။

وَمَن يُضْلِلِ اللَّهُ فَمَا لَهُ
مِن سَبِيلٍ ﴿٤٦﴾

စင်စစ်သော်ကား အကြင်သူအား အလ္လာဟ်အရှင်မြတ်သည် လမ်းမှား၌ပင် ရှိစေတော်မူပါလျှင် ထိုသူ၌ (လွတ်မြောက်ရန်ဟူ၍) မည်သည့်နည်းလမ်းမျှပင် မရှိတော့ပြီတကား။

اسْتَجِيبُوا لِرَبِّكُم مِّن قَبْلِ
أَن يَأْتِيَ يَوْمٌ لَّا مَرَدَّ لَهُ مِنَ
اللَّهِ ۚ مَا لَكُم مِّن مَّلْجَإٍ يَوْمَئِذٍ
وَمَا لَكُم مِّن نَّكِيرٍ ﴿٤٧﴾

၄၇။ အသင်တို့သည် အကြင်နေ့မရောက်မီ မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၏ အမိန့်တော်ကို နာယူကြလေကုန်။ အလ္လာဟ်အရှင်မြတ်ထံတော်မှ ယင်းနေ့ကို လွှဲဖယ်ခြင်း၊ ရွှေ့ဆိုင်းခြင်း၊ ဟူ၍ အလျှင်းရှိလိမ့်မည် မဟုတ်ပေ။ **(တနည်း)** (အသင်တို့သည် မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၏အမိန့်တော်ကို အလ္လာဟ်အရှင်မြတ်အထံတော်မှ အကြင်နေ့ ရောက်မလာမီ နာယူကြလေကုန်။ ယင်းနေ့ကို မည်သူတစ်ဦးတစ်ယောက်မျှပင် ရွှေ့ဆိုင်းနိုင်မည်မဟုတ်ပေ။)

ထိုနေ့တွင် အသင်တို့၌ ခိုလှုံရာဌာနဟူ၍လည်း အလျှင်းရှိမည် မဟုတ်ပေ။ အသင်တို့နှင့်ပတ်သက်၍ ဟန့်တားအံ့သောသူဟူ၍ (အသင်တို့အား မမှတ်မိနိုင်ရန် အကြောင်းဟူ၍ အသင်တို့၌ ငြင်းဆိုနိုင်ခြင်းဟူ၍) လည်း ရှိလိမ့်မည် မဟုတ်ပေ။

فَإِنْ أَعْرَضُوا فَمَا أَرْسَلْنَاكَ
عَلَيْهِمْ حَفِيظًا ۖ إِنْ عَلَيْكَ
إِلَّا الْبَلَاغُ ۗ وَإِنَّا إِذَا أَذَقْنَا
الْإِنسَانَ مِنَّا رَحْمَةً فَرِحَ
بِهَا ۖ وَإِن تُصِبْهُمْ سَيِّئَةٌ

၄၈။ သို့ပါလျှက် ၎င်းတို့သည် မျက်နှာလွှဲခဲ့ကြလျှင် (အို-နဗီတမန်တော်) ငါအရှင်မြတ်သည် အသင့်အား ၎င်းတို့အပေါ် စောင့်ကြပ်သူအဖြစ် စေလွှတ်တော်မူခဲ့သည် မဟုတ်ပေ။ အသင်၏တာဝန်မှာ အမိန့်တော်များကို ပို့ဆောင်ခြင်းသာဖြစ်၏။ စင်စစ်သော်ကား ငါအရှင်မြတ်သည် (ထိုသို့သော)လူသားအား ကျေးဇူးတော် တစ်စုံတစ်ရာ(၏ရသာ)ကို မြည်းစမ်းစေတော်မူသောအခါ ထိုလူသားသည် ယင်းကျေးဇူးတော်ကြောင့်

بِمَا قَدَّمَتْ أَيْدِيهِمْ فَإِنَّ الْإِنسَانَ كَفُورٌ ﴿٤٨﴾

ဝမ်းမြောက်လေ့ရှိ၏။ သို့ရာတွင် အကယ်၍ ၎င်းတို့၌ ၎င်းတို့၏လက်များက ကြိုတင်ပို့နှင့်သော အပြုအမူကြောင့် ဘေးဒုက္ခတစ်စုံတစ်ရာ သက်ရောက်ပါလျှင် ဧကန်မလွဲ ထိုလူသားမှာ လွန်စွာ ကျေးဇူးကန်းသူ ဖြစ်သွားလေသတည်း။

لِّلَّهِ مُلْكُ السَّمَاوَاتِ وَالْأَرْضِ ۚ يَخْلُقُ مَا يَشَاءُ ۚ يَهَبُ لِمَن يَشَاءُ إِنَاثًا وَيَهَبُ لِمَن يَشَاءُ الذُّكُورَ ﴿٤٩﴾

၄၉။ မိုးကောင်းကင်များကို စိုးမိုးအုပ်ချုပ်မှုအာဏာသည်လည်းကောင်း၊ ကမ္ဘာမြေကို စိုးမိုးအုပ်ချုပ်မှုအာဏာသည်လည်းကောင်း၊ အလ္လာဟ်အရှင်မြတ်၌သာ ရှိ၏။ ထိုအရှင်မြတ်သည် မိမိအလိုရှိတော်မူသောအရာကို ဖန်ဆင်းတော်မူ၏။ ထိုအရှင်မြတ်သည် မိမိအလိုရှိတော်မူသောသူအား (သမီး)မိန်းကလေးများကို ချီးမြှင့်တော်မူ၍ မိမိအလိုရှိတော်မူသောသူအား (သား)ယောကျ်ားကလေးများကို ချီးမြှင့်တော်မူ၏။

أَوْ يُزَوِّجُهُمْ ذُكْرَانًا وَإِنَاثًا ۖ وَيَجْعَلُ مَن يَشَاءُ عَقِيمًا ۚ إِنَّهُ عَلِيمٌ قَدِيرٌ ﴿٥٠﴾

၅၀။ သို့တည်းမဟုတ် ထိုအရှင်မြတ်သည် ၎င်းတို့အား သားယောကျ်ားကလေးများနှင့် သမီးမိန်းကလေးများကို ပေါင်းစပ်၍ပေးတော်မူ၏။ စုံတွဲ၍ ပေးတော်မူ၏။ ထို့မှတစ်ပါး မိမိအလိုရှိတော်မူသော သူအား (သားသမီးမထွန်းကားသော) အမြုံ ပြုလုပ်ထားတော်မူ၏။ ဧကန်မလွဲ ထိုအရှင်မြတ်သည် အရာခပ်သိမ်းတို့ကို အကြွင်းမဲ့သိတော်မူသောအရှင်၊ လွန်စွာ ပြုစွမ်းနိုင်တော်မူသောအရှင် ဖြစ်တော်မူပေသတည်း။ ၁

---

(၁) စကြာဝဠာအနန္တကို အလ္လာဟ်အရှင်မြတ်သည်ပင် ဖန်ဆင်းထားတော်မူသည်။ စကြာဝဠာအနန္တ၌ ထိုအရှင်မြတ်၏ အာဏာစက်သည်ပင် တည်လျက်ရှိသည်။ ထိုအရှင်မြတ်သည် တန်ခိုးတော်အနန္တ၊ ဉာဏ်တော်အနန္တနှင့် ပြည့်စုံတော်မူသည်။ မည်သူမည်ဝါသည် မည်သည့်အရာနှင့် မည်ရွေ့မည်မျှ ထိုက်တန်သည်ကို သိတော်မူသည်။ သို့သိတော်မူသည့်အလျောက် ထိုက်သူအား ထိုက်သည့်အားလျော်စွာ အမျိုးမျိုး၊ အစားစား၊ အပြားပြား ချီးမြှင့်တော်မူသည်။

ဥပမာ-အလ္လာဟ်အရှင်မြတ်သည် အချို့အား သမီးမိန်းကလေးများ ချီးမြှင့်ထားတော်မူသည်။ အချို့အား သားယောကျ်ားကလေးများ ချီးမြှင့်ထားတော်မူသည်။ အချို့အား သားရောသမီးပါ ဒွန်တွဲပြီး ချီးမြှင့် ➤➤

وَمَاكَانَ لِبَشَرٍ اَنْ يُّكَلِّمَهُ اللّٰهُ اِلَّا وَحْيًا اَوْ مِنْ وَّرَآئِ حِجَابٍ اَوْ يُرْسِلَ رَسُوْلًا فَيُوْحِيَ بِاِذْنِهٖ مَا يَشَآءُ ۗ اِنَّهٗ عَلِيٌّ حَكِيْمٌ ﴿٥١﴾

၅၁။ မည်သည့်လူသား တစ်ဦးတစ်ယောက်နှင့်မျှ အလ္လာဟ်အရှင်မြတ်သည် "ဝဟ်ယ်" အမိန့်တော် ထုတ်ပြန်တော်မူခြင်းမှတစ်ပါး၊ အရိပ်အခြည် ပြတော်မူခြင်းမှတစ်ပါး၊ သို့တည်းမဟုတ် အကွယ်အကာ တစ်စုံတစ်ရာ၏နောက်မှတစ်ပါး စကားပြောတော်မူသည် မဟုတ်ပေ။ သို့တည်းမဟုတ် ထိုအရှင်မြတ်သည် စေတမန်တစ်ပါးပါးကို စေလွှတ်တော်မူ၏။

ထိုအခါ ထိုစေတမန်သည် ထိုအရှင်မြတ်၏ အမိန့်တော်နှင့် ထိုအရှင်မြတ် အလိုရှိတော်မူသော "ဝဟ်ယ်"ထုတ်ပြန်ချက်ကို ပို့ပေးလေ၏။ ဧကန်စင်စစ် ထိုအရှင်မြတ်သည် လွန်စွာ မြင့်မြတ်တော်မူသောအရှင်၊ ဆင်ခြင်တုံတရားနှင့် ပြည့်စုံတော်မူသောအရှင်၊ ဖြစ်တော်မူ၏။ [၁]

---

➢➢ ထားတော်မူသည်၊ အချို့အား အမြုံပြုလုပ်ထားတော်မူသည်။ ဤသည် အလ္လာဟ်အရှင်မြတ်၏ စီမံဖန်တီးမှုပင်။ ထိုအရှင်မြတ်၏ စီမံဖန်တီးမှုတွင် မည်သူ့၌မျှ ဝင်ရောက်စွက်ဖက်ပြောဆိုပိုင်ခွင့်မရှိ။ ထိုအရှင်မြတ် စီမံဖန်တီးထားတော်မူသည့်အပေါ်၌ အခါခပ်သိမ်း ကျေနပ်နှစ်သက် ရောင့်ရဲတင်းတိမ်နေရမည်သာတည်း။ ကျေးဇူးတင်နေရမည် သာတည်း။ မေ့မှား၍မျှ ကျေးဇူးမကန်းရာ။ မမောက်မာ မပလွှားရာ။

**(၁) <u>အလ္လာဟ်အရှင်မြတ်နှင့် လူသား စကားပြောပုံ၊</u>**

လူသားသည် လက်ရှိအခြေအနေတွင် လက်ရှိကိုယ်ခန္ဓာဖြင့် လက်ရှိစွမ်းရည်သတ္တိဖြင့်ပင် ရှိနေစဉ် ဤပစ္စက္ခတွင် ၎င်းနှင့်မျက်နှာချင်းဆိုင် အလ္လာဟ်အရှင်မြတ် စကားပြောဆိုတော်မူပါက လူသား၌ ဤသည့်ဒဏ်ကို ခံနိုင်ရည်စွမ်း အလျင်းမရှိပေ။ ထို့အတွက် လူသားတစ်ဦးနှင့် အလ္လာဟ်အရှင်မြတ် စကားပြောတော်မူပုံမှာ သုံးမျိုးသာ ရှိသည်။

**<u>(၁) စပ်ကြားတွင် အဆက်အသွယ်တစ်စုံတစ်ရာ မပါရှိဘဲ (ဟိဂျာဗ်) အကာအကွယ်၏နောက်မှ စကားပြောတော်မူခြင်း။</u>**

ဆိုလိုသည်ကား (နဗီ)တမန်တော်၏ ကြားသောအာရုံသည်သာ အလ္လာဟ်အရှင်မြတ် ပြောကြားတော်မူသည်ကို ကြားနာနိုင်ပေသည်။ ဤသည့် ပြောကြားတော်မူပုံတွင် တမန်တော်၏မျက်စိများသည် ထိုအရှင်မြတ်အား ဖူးမြင်နိုင်သည်မရှိ။

ဥပမာ- တမန်တော်မူစာသည် "တူရ်" တောင်ထိပ်တွင်လည်းကောင်း၊ တမန်တော်မြတ်သည် "မိအ်ရာဂျ်" ညဥ့်တွင်လည်းကောင်း၊ ဤနည်းအတိုင်းပင် အလ္လာဟ်အရှင်မြတ်၏ စကားပြောကြားတော်မူခြင်းကို ကြားနာခဲ့ကြရပေသည်။



وَكَذٰلِكَ أَوْحَيْنَآ إِلَيْكَ رُوحًا مِّنْ أَمْرِنَا ۚ مَا كُنتَ تَدْرِى مَا ٱلْكِتَٰبُ وَلَا ٱلْإِيمَٰنُ

၅၂။ ထိုနည်းအတိုင်းပင် ငါအရှင်မြတ်သည် မိမိ အမိန့်တော်များအနက်မှ "ရူဟ်"တည်းဟူသော ကုရ်အာန် ကျမ်းတော်မြတ်ကို ထုတ်ပြန်တော်မူခဲ့၏။ အသင်သည် ကျမ်းဂန်ဒေသနာတော်ဟူသည် အဘယ်နည်းဟူ၍ လည်းကောင်း၊ "အီမာန်"သက်ဝင်ယုံကြည်မှုဟူသည် အဘယ်နည်းဟူ၍လည်းကောင်း၊ သိရှိခဲ့သည်မဟုတ်ပေ။

---

➤➤ **(၂) ကောင်းကင်တမန်မှတဆင့် စကားပြောကြားတော်မူခြင်း။**

သို့တစေလည်း ကောင်းကင်တမန်သည် မိမိ၏ကိုယ်ခန္ဓာထင်ရှားပြပြီး မျက်စိရှေ့မှောက်တွင် ရောက်ရှိလာသည်မဟုတ်ဘဲ၊ သက်ဆိုင်ရာ တမန်တော်၏ စိတ်နှလုံးသားအပေါ်တွင် တိုက်ရိုက်သက်ရောက် သည်။

တမန်တော်သည် မိမိ၏စိတ်နှလုံးသားဖြင့်ပင် ကောင်းကင်တမန် သက်ရောက်သည်ကို သိသည်။ ကောင်းကင်တမန်၏ အသံကိုကြားသည်။ ကုရ်အာန်ကျမ်းလာ အာယတ်တော်များသည် များသောအားဖြင့် ဤနည်းအတိုင်းပင် ကျရောက်လာခဲ့ပေသည်။ ဤသည့်သဘောကို ကုရ်အာန်ကျမ်းမြတ် (၂၆း၁၉၃-၁၉၄။ ၂း၉၇) တွင်လည်း ညွှန်ပြထားတော် မူသည်။

ဤသည့် စကားပြောကြားတော်မူပုံသည် စိတ်နှလုံးသားနှင့်သာ သက်ဆိုင်သည်။ အလွန့်အလွန် လျှို့ဝှက်သည်။ သိပ်သည်းသည်။ ထို့အတွက် ယင်းသို့ စကားပြောကြားနေတော်မူသည့်အချိန်တွင် သက်ဆိုင်ရာ တမန်တော်မှတပါး အခြား တစ်ဦးတစ်ယောက် တစ်စုံတစ်ရာ မတွေ့ရ။ မကြားရ။ ထို့အတွက်ကြောင့် ဤ အာယတ်တော်တွင် ဤသည့် စကားပြောကြားတော်မူပုံကို "ဝဟ်ယ်"ဟူ၍ ရည်ညွှန်းသုံးနှုန်း ထားတော်မူခြင်း ဖြစ်သည်။ အဘယ်ကြောင့်ဆိုသော် "ဝဟ်ယ်" ဟူသောပုဒ်သည် လျှို့ဝှက်ခြင်း၊ လျင်မြန်စွာ ညွှန်ပြခြင်း အနက်ဟောသည်။

**(၃) ကောင်းကင်တမန်သည် သက်ဆိုင်ရာ တမန်တော်၏ ရှေ့မှောက်တွင် ကိုယ်ထင်ပြပြီး အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်များကို ပြောပြခြင်း။**

ကောင်းကင်တမန် ဂျိဗ်ရီလ်သည် မိမိ၏မူလ ရုပ်ဆင်းသဏ္ဌာန်နှင့် တမန်တော်မြတ်ထံသို့ တစ်ကြိမ်၊ နှစ်ကြိမ် ကြွလာခဲ့ဖူးသည်။ များသောအားဖြင့် ကောင်းကင်တမန် ဂျိဗ်ရီလ်သည် တမန်တော်မြတ်ထံသို့ (ဆွဟာဗီ) သာဝကကြီး ဒိဟ်ယဟ်ကလ်ဗီသခင်၏ ရုပ်ဆင်းသဏ္ဌာန်ဖြင့် ကြွလာလေ့ရှိခဲ့သည်။ တစ်ခါတစ်ရံ မထင်ရှားသော ပုံသဏ္ဌာန်ဖြင့်လည်း ကြွလာလေ့ရှိခဲ့ပေသည်။

ထိုအခါ တမန်တော်မြတ်နှင့်တကွ အနီးပတ်ဝန်းကျင်တွင်ရှိသော သာဝကကြီးများသည် ကောင်းကင် တမန်၏ ရုပ်ဆင်းသဏ္ဌာန်ကိုလည်း တွေ့မြင်ခဲ့ကြရပေသည်။ အသံကိုလည်း ကြားခဲ့ကြရပေသည်။ အထက်တွင် ဖော်ပြပါ စကားပြောကြားတော်မူပုံ သုံးရပ်လုံးကို ဤအာယတ်တော်တွင် ရည်ညွှန်းမိန့်ဆိုထားတော်မူသည်။

(အလ္လာဟ်အရှင်မြတ်သည် အလွန်မြင့်မြတ်တော်မူသည်။ (ဟိကမ်တ်) ဆင်ခြင်တုံတရားနှင့် ပြည့်စုံတော်မူသည်။ မည်သူမည်ဝါတို့သည် (ဝဟ်ယ်)နှင့် ထိုက်တန်ကြသည်ကို ကောင်းစွာသိတော်မူသည်။ ကာဖိရ်များသည် (ဝဟ်ယ်)နှင့် လားလားမျှ မထိုက်တန်ကြပေ)။

وَلٰكِنْ جَعَلْنٰهُ نُوْرًا نَّهْدِيْ بِهٖ
مَنْ نَّشَآءُ مِنْ عِبَادِنَا ۚ وَاِنَّكَ
لَتَهْدِيْٓ اِلٰى صِرَاطٍ مُّسْتَقِيْمٍ ﴿٥٢﴾

သို့ရာတွင် ငါအရှင်မြတ်သည် ယင်းကုရ်အာန်ကျမ်းတော်မြတ်ကို လင်းရောင်ခြည်ပြုလုပ်တော်မူ၍ ထိုလင်းရောင်ခြည်ဖြင့် ငါအရှင်မြတ်သည် မိမိကျွန်တို့အနက်မှ *မိမိအလိုရှိတော်မူသောသူအား တရားလမ်းမှန်ကို ညွှန်တော်မူ၏။* [၁] ၎င်းပြင် *ဧကန်မလွဲ သင်သည် ဖြောင့်မတ်သောတရားလမ်းကို အမှန်ပင် ညွှန်ပြလျက်ရှိ၏။* [၂]

صِرَاطِ اللّٰهِ الَّذِيْ لَهٗ مَا فِي
السَّمٰوٰتِ وَمَا فِي الْاَرْضِ ۗ
اَلَآ اِلَى اللّٰهِ تَصِيْرُ الْاُمُوْرُ ﴿٥٣﴾

၅၃။ အကြင်အလ္လာဟ်အရှင်မြတ်၏ တရားလမ်းကို၊ မိုးကောင်းကင်များ၌ ရှိသမျှတို့သည်လည်းကောင်း၊ ပထဝီမြေ၌ ရှိသမျှတို့သည်လည်းကောင်း၊ ထိုအရှင်မြတ်သာလျှင် ပိုင်ဆိုင်တော်မူသောအရာများ ဖြစ်ကြကုန်၏။ သတိပြုကြလေကုန်။ အရေးကိစ္စ အလုံးစုံတို့သည် ထိုအရှင်မြတ် အထံတော်သို့သာလျှင် ပြန်လည်ရောက်ကြကုန်သတည်း။

---

(၁) ကုရ်အာန်ကျမ်းမြတ်သည် တရားရောင်ခြည်ဖြစ်သည်။ အလ္လာဟ်အရှင်မြတ်သည် ယင်းရောင်ခြည်ဖြင့် မိမိအလိုရှိတော်မူသော ပုဂ္ဂိုလ်များအား နစ်ဘဝ၏ အောင်မြင်ရာအောင်မြင်ကြောင်း နည်းလမ်းကောင်းကို ပြသတော်မူသည်။

(၂) တမန်တော်မြတ်သည် ကုရ်အာန်ကျမ်းမြတ်ဖြင့် လူသားအားလုံးတို့အား အလ္လာဟ်အရှင်မြတ် ထံတော်ပါးသို့ ချဉ်းကပ်နိုင်သည့် ဖြောင့်မတ်မှန်ကန်သော တရားလမ်းစဉ်ကို အမှန်ပင် ညွှန်ပြလျက်ရှိတော်မူသည်။ ယင်းသည့် ဖြောင့်မတ်မှန်ကန်သော တရားလမ်းစဉ်နှင့်အညီ ကျင့်သုံးမှု၊ မကျင့်သုံးမှုသည် သက်ဆိုင်ရာပုဂ္ဂိုလ်တို့၏ တာဝန်သာဖြစ်သည်။ တမန်တော်မြတ်၏ တာဝန်မဟုတ်။

## ရွှေ ကဏ္ဍ

سُوْرَةُ الزُّخْرُفِ

ဤကဏ္ဍသည် "ဇုခ်ရုဖ်" ရွှေအကြောင်းပါသော ကဏ္ဍဖြစ်သည်။ မက္ကာမြို့တော်တွင် ကျရောက်ခဲ့၏။ ဤကဏ္ဍတွင် အာယတ်တော် (၈၉)ပါး၊ ရုကူအ်အပိုဒ်(၇)ပိုဒ် အသီးသီးပါရှိ၏။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ

အနန္တကရုဏာတော်ရှင် ဖြစ်တော်မူသော၊ အစဉ်အမြဲ သနားကြင်နာညှာတာတော်မူသော အလ္လာဟ်အရှင်မြတ်၏ နာမံတော်ဖြင့် အစပြုပါ၏။

حٰمٓ ﴿١﴾

၁။ ဟာ၊ မီမ်။

وَالْكِتٰبِ الْمُبِيْنِ ﴿٢﴾

၂။ (ငါအရှင်မြတ်သည်) ရှင်းလင်းထင်ရှားစွာသော ကျမ်းဂန် ဓမ္မကမ္ဘာန်ကို သက်သေထူတော်မူ၏။

اِنَّا جَعَلْنٰهُ قُرْءٰنًا عَرَبِيًّا لَّعَلَّكُمْ تَعْقِلُوْنَ ﴿٣﴾

၃။ စင်စစ်ကေန် ငါအရှင်မြတ်သည် အသင်တို့ (ကောင်းမွန်စွာ) သိနားလည်ကြအံ့သောငှာ ယင်း ကျမ်းဂန်ကို *အရဗ်ဘာသာစကားဖြင့် (ထုတ်ပြန်အပ်သော)ကုရ်အာန်ကျမ်းတော်မြတ် ပြုလုပ်တော်မူ၏။* [၁]

وَاِنَّهٗ فِيْٓ اُمِّ الْكِتٰبِ لَدَيْنَا لَعَلِيٌّ حَكِيْمٌ ﴿٤﴾

၄။ ၎င်းပြင် ဧကန်စင်စစ် ကုရ်အာန်ကျမ်းတော်မြတ်သည် မူရင်းကျမ်း(ဖြစ်သော "လောင်ဟုမဟ်ဖူဇ်" သင်ပုန်း)တွင် ငါအရှင်မြတ်ထံတော်၌ အမှန်ပင် လွန်စွာ မြင့်မြတ်လှ၏။ ဉာဏ်ပညာရပ်နှင့် ပြည့်စုံလှ၏။ [၂]

---

(၁) ကုရ်အာန်ကျမ်းလာ ဒေသနာတော်များကို ဦးစွာပထမ ကြားနာရသော ပုဂ္ဂိုလ်များမှာ အရဗ်အမျိုးသားများ ဖြစ်ခဲ့ကြပေရာ၊ အလ္လာဟ်အရှင်မြတ်သည် ကုရ်အာန်ကျမ်းမြတ်ကို ၎င်းတို့၏ အမိဘာသာစကားဖြစ်သော အရဗ်ဘာသာစကားဖြင့်ပင် ထုတ်ပြန်ချမှတ်ပေးတော်မူခဲ့သည်။ သို့မှသာလျှင် အရဗ်လူမျိုးတို့သည် ကုရ်အာန် ကျမ်းလာ ဒေသနာတော်များကို မိမိတို့ကိုယ်တိုင် ကောင်းမွန်စွာ နားလည်သဘောပေါက်ကြပေမည်။ ထို့နောက် ၎င်းတို့မှတဆင့် ကမ္ဘာသူကမ္ဘာသား အားလုံးတို့သည် ယင်းကျမ်းလာဒေသနာတော်များကို သင်ကြားယူကြပေမည်။ ဤအကြောင်းနှင့်စပ်လျဉ်း၍ ကုရ်အာန် (၄၁း၄၄၊ ၄၂း၇)၏ အဖွင့်တွင် အကျယ်ရေးသားခဲ့ပေပြီ။

أَفَنَضْرِبُ عَنكُمُ الذِّكْرَ صَفْحًا أَن كُنتُمْ قَوْمًا مُّسْرِفِينَ ﴿٥﴾

၅။ သို့ဖြစ်ပေရာ အသင်တို့သည် စည်းကမ်း ကျူးလွန်သူများဖြစ်သောကြောင့် (ဤ)ဆုံးမဩဝါဒ ကျမ်းကို ငါအရှင်မြတ်သည် အသင်တို့ထံမှ လွှဲဖယ် တော်မူရမည်လော။

وَكَمْ أَرْسَلْنَا مِن نَّبِيٍّ فِي الْأَوَّلِينَ ﴿٦﴾

၆။ စင်စစ်သော်ကား ငါအရှင်မြတ်သည် ရှေး သူဟောင်းတို့တွင် မြောက်မြားစွာသော နဗီတမန်တော် များကို စေလွှတ်တော်မူခဲ့၏။

وَمَا يَأْتِيهِم مِّن نَّبِيٍّ إِلَّا كَانُوا بِهِ يَسْتَهْزِئُونَ ﴿٧﴾

၇။ သို့တစေလည်း ၎င်းတို့သည် မိမိတို့ထံ ရောက်ရှိလာသော နဗီတမန်တော်တိုင်းကိုပင် ပြက်ရယ် ပြောင်လှောင်ခဲ့ကြသည်သာ။

فَأَهْلَكْنَا أَشَدَّ مِنْهُم بَطْشًا وَمَضَىٰ مَثَلُ الْأَوَّلِينَ ﴿٨﴾

၈။ သို့ဖြစ်ပေရာ ငါအရှင်မြတ်သည် လက်ရှိ ဤသူ တို့ထက် ခွန်အားဗလ ရဲစွမ်းသတ္တိအရာ၌ ပိုမို ပြင်းထန်သောသူတို့ကိုပင် ဖျက်ဆီးတော်မူခဲ့ပေသည်။ စင်စစ်သော်ကား ရှေးဟောင်းသူတို့၏ (ဤ)အကြောင်း မှာ လွန်လေခဲ့ပြီး ဖြစ်ပေသတည်း။

وَلَئِن سَأَلْتَهُم مَّنْ خَلَقَ السَّمَاوَاتِ وَالْأَرْضَ لَيَقُولُنَّ

၉။ စင်စစ် အကယ်၍ (အို-နဗီတမန်တော်၊) အသင်သည် ထိုသူတို့အား “မိုးကောင်းကင်များကို လည်းကောင်း၊ ပထဝီမြေကိုလည်းကောင်း၊ မည်သူ

---

(၂) ကုရ်အာန်ကျမ်းလာ ဒေသနာတော်များသည် အလွန့်အလွန် နက်နဲသည်။ သိမ်မွေ့သည်။ ဖြောင့်မတ်မှန်ကန် သည်။ ပညာအပြည့်အဝပါသည်။ ကုရ်အာန်ကျမ်းလာ အမိန့်တော်များသည် (မန်စူခ်)-ပလပ်သည်ဟူ၍ အလျင်း မရှိ။ ခိုင်လုံလှသည်။ အမြဲထာဝစဉ်တည်မည်။ အဘယ်ကြောင့်ဆိုသော် ကုရ်အာန်ကျမ်းမြတ်ကို ထုတ်ပြန်ပို့ချတော်မူသောအရှင်မှာ အလ္လာဟ်အရှင်မြတ် ကိုယ်တော်တိုင် ဖြစ်တော်မူသည်။

ထိုအရှင်မြတ်ထံတော်မှ ယူဆောင်လာသော ကောင်းကင်တမန်တော်မှာ ကောင်းကင်တမန် ဂျိဗ်ရီလ် ဖြစ်တော်မူသည်။ ပို့ချခြင်းခံရသော တမန်တော်မှာ တမန်တော်မြတ် မုဟမ္မဒ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်) ဖြစ်တော်မူသည်။ မူရင်းကျမ်းထားရာဌာနမှာ အလ္လာဟ်အရှင်မြတ်၏ ထံတော်ပါးရှိ “လောင်ဟုမဟ်ဖူဇ်”ခေါ် မှတ်တမ်းတော်ဖြစ်သည်။ ကုရ်အာန်ကျမ်းမြတ်ကား ခိုင်လုံလှပါဘိတကား။ မြင့်မြတ်လှပါဘိတကား။ ဤအကြောင်းနှင့်စပ်လျဉ်း၍ ကုရ်အာန် (၈၀း၁၁-၁၆)၏ အဖွင့်ကို ဆင်ခြင်ပါကုန်။

خَلَقَهُنَّ الْعَزِيزُ الْعَلِيمُ ﴿٩﴾

သည် ဖန်ဆင်းခဲ့သနည်း"ဟု မေးမြန်းခဲ့ပါလျှင် ထိုသူတို့က ယင်း(မိုးကောင်းကင်များနှင့်ပထဝီမြေ)တို့ကို အလွန်တရာ နိုင်နင်းလွှမ်းမိုးတော်မူသော၊ အကြွင်းမဲ့သိတော်မူသော အရှင်မြတ် ဖန်ဆင်းတော်မူခဲ့သည်ဟူ၍ပင် ဧကန်မလွဲ ဖြေဆိုကြပေမည်။

الَّذِي جَعَلَ لَكُمُ الْأَرْضَ مَهْدًا وَجَعَلَ لَكُمْ فِيهَا سُبُلًا لَّعَلَّكُمْ تَهْتَدُونَ ﴿١٠﴾

၁၀။ အကြင်အရှင်မြတ်ပင်။ ထိုအရှင်မြတ်သည် အသင်တို့အဖို့ ပထဝီမြေကို အခင်းပြုလုပ်တော်မူခဲ့၏။ ၎င်းပြင် ထိုအရှင်မြတ်သည် အသင်တို့အဖို့ ယင်းပထဝီမြေ၌ အသင်တို့သည် (မိမိတို့လိုရာခရီးများကို လွယ်ကူစွာသွားနိုင်ရန်) လမ်းမှန်ကို ရရှိကြအံ့သော ငှာ လမ်းပမ်းများကို ပြုလုပ်၍ ပေးတော်မူခဲ့၏။

وَالَّذِي نَزَّلَ مِنَ السَّمَاءِ مَاءً بِقَدَرٍ فَأَنشَرْنَا بِهِ بَلْدَةً مَّيْتًا ۚ كَذَٰلِكَ تُخْرَجُونَ ﴿١١﴾

၁၁။ ထိုမှတစ်ပါး အကြင်အရှင်မြတ်ပင်။ ထိုအရှင်မြတ်သည် မိုးကောင်းကင်မှမိုးရေကို အတိုင်းအတာ အချိန်အဆနှင့် ရွာသွန်းစေတော်မူခဲ့၏။ တစ်ဖန် ထိုအရှင်မြတ်သည် ထိုမိုးရေဖြင့် (သွေ့ခြောက်)သေလွန်ပြီးဖြစ်သော မြို့ရွာ(မြေယာ)များကို ရှင်ပြန်(စိမ်းစို)စေတော်မူခဲ့၏။ ဤနည်းအတိုင်းပင် အသင်တို့သည်လည်း (မိမိတို့သင်္ချိုင်းတွင်းမှ ရှင်ပြန်)ထွက်စေခြင်းကို ခံကြရပေမည်။

وَالَّذِي خَلَقَ الْأَزْوَاجَ كُلَّهَا وَجَعَلَ لَكُم مِّنَ الْفُلْكِ وَالْأَنْعَامِ مَا تَرْكَبُونَ ﴿١٢﴾

၁၂။ ၎င်းပြင် အကြင်အရှင်မြတ်ပင်။ ထိုအရှင်မြတ်သည် အလုံးစုံသော ဖိုမ-စုံတွဲအမျိုးအစားများကို ဖန်ဆင်းတော်မူခဲ့၏။ ထိုမှတစ်ပါး ထိုအရှင်မြတ်သည် အသင်တို့ စီးနင်းကြကုန်သော သင်္ဘောများကိုလည်းကောင်း၊ ခြေလေးချောင်းတိရစ္ဆာန်များကိုလည်းကောင်း ပြုလုပ်ဖန်ဆင်းတော်မူခဲ့၏။

لِتَسْتَوٗا عَلٰى ظُهُوۡرِهٖ ثُمَّ تَذۡكُرُوۡا نِعۡمَةَ رَبِّكُمۡ اِذَا اسۡتَوَيۡتُمۡ عَلَيۡهِ وَتَقُوۡلُوۡا سُبۡحٰنَ الَّذِىۡ سَخَّرَ لَنَا هٰذَا وَمَا كُنَّا لَهٗ مُقۡرِنِيۡنَ ۝١٣

၁၃။ အသင်တို့သည် ယင်း(အစီးအနင်းတို့)၏ ကျောက်ကုန်းများထက်ဝယ် ကျနမြဲမြံစွာ တက်စီးကြအံ့သောငှာလည်းကောင်း၊ ထို့နောက် အသင်တို့သည် ယင်း(အစီးအနင်း)ပေါ်၌ ကျနမြဲမြံစွာ တက်စီးခဲ့ကြသောအခါ မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၏ကျေးဇူးတော်ကို အောက်မေ့တသ သတိရကြအံ့သောငှာလည်းကောင်း၊ (ဤသို့) ပြောဆိုအံ့သောငှာလည်းကောင်း၊ "ကျွန်တော်မျိုးတို့အဖို့ ဤအစီးအနင်းကို နိုင်နင်းစေတော်မူခဲ့သောအရှင်မြတ်သည် စင်ကြယ် သန့်ရှင်းတော်မူပါ၏။ အမှန်စင်စစ်သော်ကား ကျွန်တော်မျိုးတို့သည် ဤအစီးအနင်းကို နိုင်နင်းကြသူများ မဟုတ်ခဲ့ပေ။

وَاِنَّاۤ اِلٰى رَبِّنَا لَمُنۡقَلِبُوۡنَ ۝١٤

၁၄။ ၎င်းပြင် ဧကန်မလွဲ ကျွန်တော်မျိုးတို့သည် မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ် အထံတော်သို့ အမှန်ပင် ပြန်သွားကြအံ့သောသူများပင် ဖြစ်ကြပေသတည်း။ [၁]

(၁) ထိုအရှင်မြတ်သည်ပင် အရာရာကို အံ့ဖွယ်သရဲ အစုံစုံ ဖန်ဆင်းထားတော်မူသည်။ ထိုအရှင်မြတ်သည်ပင် လူသားတို့ လွယ်လင့်တကူ စီးနင်းသွားလာနိုင်ရန်အလို့ငှာ အခြေလေးချောင်း တိရစ္ဆာန်များနှင့် ရေယာဉ်များကို ဖန်ဆင်းထားတော်မူသည်။

ဤသို့ လိုလေသေးသည်မရှိ ဖန်ဆင်းထားတော်မူခြင်းမှာ အကြောင်းမဲ့မဟုတ်။ လူသားတို့သည် အစီးအနင်းများကို မိမိတို့ပိုင်နိုင်စွာ တက်စီးကြသည့်အခါ မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသော အလ္လာဟ်အရှင်မြတ်၏ အံ့မဆုံးသော ကျေးဇူးတော်များကို တွေးဆဆင်ခြင်မြော်မြင်၍ ထိုအရှင်မြတ်အား အောက်မေ့တသ သတိရကြရန်နှင့် ( سُبۡحٰنَ الَّذِىۡ سَخَّرَ لَنَا هٰذَا وَمَا كُنَّا لَهٗ مُقۡرِنِيۡنَ وَاِنَّاۤ اِلٰى رَبِّنَا لَمُنۡقَلِبُوۡنَ ) "ဤသည်ကို ကျွန်ုပ်တို့၏ အခိုင်းအစေအဖြစ် ပြုလုပ်ပေးတော်မူသော အရှင်မြတ်ကား စင်ကြယ်သန့်ရှင်း အပြစ်ကင်းတော်မူလှပါဘိတကား။ အမှန်မှာ ကျွန်ုပ်တို့သည် ဤသည်ကို အသို့မျှ ချုပ်ကိုင်နိုင်ကြသည်မဟုတ်။ မုချဧကန် ကျွန်ုပ်တို့သည် မိမိ၏အရှင်သခင်ထံတော်သို့ ပြန်လည်ရောက်ရှိ ကြရမည့်သူများပါတကား" ဟု ကာယကံမြောက် ရင်ဖွင့်ထုတ်ဖော် ပြောဆိုကြရန်ပင်ဖြစ်သည်။

သို့ဖြစ်ရာ လူသားတို့သည် လောကီရေးခရီးသွားတိုင်း တစ်ရက် ငါတို့သည် မိမိတို့၏အရှင်သခင်မြတ် ဖြစ်တော်မူသော အလ္လာဟ်အရှင်မြတ် ထံတော်သို့ ပြန်လည်ရောက်ရှိကြရမည် ဖြစ်သည်ဟူသော တမလွန်ခရီးကို လည်း သတိရကြရာသည်။ အစီးအနင်းများကို စီးနင်းသည့်အခါတိုင်း၌ ဤသို့စီးနင်းနိုင်ခြင်းမှာ မိမိတို့၏ ➤➤

وَجَعَلُوا لَهُ مِنْ عِبَادِهِ جُزْءًا ۚ إِنَّ الْإِنسَانَ لَكَفُورٌ مُّبِينٌ ﴿١٥﴾

၁၅။ သို့သော်လည်း ၎င်းတို့သည် ထိုအရှင်မြတ်၏ ကျွန်များအနက် (အချို့ကို) ထိုအရှင်မြတ်၏ အစိတ်အပိုင်းတစ်ခုဟူ၍ သတ်မှတ်ခဲ့ကြကုန်၏။ ကေန်အမှန် လူသားသည် ထင်ရှားစွာသော ကျေးဇူးကန်းသူပင် ဖြစ်ချေသည်။ ၁

أَمِ اتَّخَذَ مِمَّا يَخْلُقُ بَنَاتٍ وَأَصْفَاكُم بِالْبَنِينَ ﴿١٦﴾

၁၆။ ထိုအရှင်မြတ်သည် မိမိ အဖန်ဆင်းခံတို့အနက် မိမိအဖို့ သမီးမိန်းကလေးများကို ရွေးချယ်တော်မူ၍ အသင်တို့ကိုမူကား သားယောကျ်ားကလေးတို့ဖြင့် ချီးမြှောက်တော်မူခဲ့ပါသလော။

---

➤➤ စွမ်းရည်ကြောင့်မဟုတ်။ အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်ကြောင့်သာ ဖြစ်သည်ကို နှလုံးပိုက်ကာ ကုရ်အာန်ကျမ်းလာ အောက်ပါဆုဒိုအာကို ပန်ကြားကြရာသတည်း။

( سُبْحَانَ الَّذِي سَخَّرَ لَنَا هَٰذَا وَمَا كُنَّا لَهُ مُقْرِنِينَ وَإِنَّا إِلَىٰ رَبِّنَا لَمُنقَلِبُونَ )

① အထက်တွင် မိန့်ကြားထားတော်မူသည့်အတိုင်း လူသားတို့သည် အလ္လာဟ်အရှင်မြတ်အား ကျေးဇူးတင်ကြရမည်သာဖြစ်သည်။ ယခုမူ အချို့လူသားတို့သည် ထိုအရှင်မြတ်အား ကျေးဇူးကန်းကြသည်သာမက ထိုအရှင်မြတ်နှင့်ပတ်သက်၍ပင် အရိုအသေကင်းမဲ့စွာဖြင့် မလျော်ကန်သောစကားများကိုပင် ပြောဆိုကြပေသည်။

အချို့လူသားများသည် အလ္လာဟ်အရှင်မြတ်၌ သားသမီးများရှိကြသည်ဟု (မပြောစကောင်း) ပြောဆိုကြသည်။ သို့ပြောဆိုရာတွင်လည်း ထိုအရှင်မြတ်၌ သားမဟုတ်၊ သမီးများရှိသည်ဟု ဆိုကြသည်။ ဤသို့ကား အလျင်းမဆိုအပ်။

အဘယ်ကြောင့်ဆိုသော်....

(၁) သားသမီးသည် ဖခင်၏ တစ်စိတ်တစ်ဒေသဖြစ်သည်။ အစိတ်အပိုင်းတစ်ခု ဖြစ်သည်။ အလ္လာဟ်အရှင်မြတ်၌ သားသမီးရှိသည်ဟုဆိုခြင်းမှာ ထိုအရှင်မြတ်သည် အစိတ်အပိုင်းများဖြင့် စုပေါင်းတည်ရှိတော်မူသည်။ အစိတ်အပိုင်းများဖြင့် စုပေါင်းတည်ရှိသောအရာသည် သင်္ခါရဖြစ်သည်။ သင်္ခါရသည် ပျက်စီးရမည်သာတည်းဟု ဆိုရာ ရောက်သည်။

(၂) ဖခင်နှင့်သားသမီးသည် တစ်မျိုးတစ်စားတည်းဖြစ်သင့်သည်။ တစ်မျိုးတစ်စားတည်းမဖြစ်ပါက ဖခင်အဖို့သော်လည်းကောင်း၊ သားသမီးအဖို့သော် လည်းကောင်း အပြစ်ဆိုဖွယ်ရာဖြစ်သည်။ ဤတွင်ဖန်ဆင်းတော်မူသော အရှင်နှင့် အဖန်ဆင်းခံ၌ တစ်မျိုးတစ်စားတည်းဖြစ်ရှိရန် ပြဿနာသည် စဉ်းစား၍ပင် မဖြစ်နိုင်ပေ။

(၃) သမီးသည် သားနှင့်စာလျှင် ကာယအားဖြင့်သော်လည်းကောင်း၊ ဉာဏအားဖြင့်သော်လည်းကောင်း နိမ့်ကျသည်။ အလ္လာဟ်အရှင်မြတ်၌ သားသမီးရှိသည်ဟု ဆိုရာတွင်လည်း မိမိတို့အဖို့ မိမိတို့ကိုယ်တိုင် မနှစ်မြို့ကြသော ကာယ၊ ဉာဏအားဖြင့် နိမ့်ကျသော သမီးများရှိသည်ဟု ရှက်ဖွယ်လိလိဆိုကြသည်။ ဤထက် ကျေးဇူးကန်းမှု၊ အရိုအသေကင်းမဲ့မှု၊ မခန့်ညားမှုသည် အဘယ်မှာလျှင် ရှိနိုင်အံ့နည်း။ ကာဖိရ်၊ မုရှ်ရစ်က်တို့ကား ကျေးဇူးကန်းလှဘိတကား။

وَإِذَا بُشِّرَ أَحَدُهُم بِمَا ضَرَبَ لِلرَّحْمَٰنِ مَثَلًا ظَلَّ وَجْهُهُ مُسْوَدًّا وَهُوَ كَظِيمٌ ﴿١٧﴾

၁၇။ စင်စစ်သော်ကား ၎င်းတို့အနက် တစ်စုံတစ်ယောက်သည် မိမိကိုယ်တိုင် အနန္တကရုဏာတော်ရှင်အား ခိုင်းနှိုင်းဖော်ပြ စော်ကားခဲ့သောအရာဖြင့် သတင်းကောင်းပြောကြားခြင်းကို ခံရလေသောအခါ ထိုသူသည် စိတ်တွင်းခံစားမှုကို ချုပ်တည်း မျိုသိပ်လျက် ရှိသည်သာမက ၎င်း၏မျက်နှာမှာလည်း တစ်နေကုန် ညှိုးနွမ်းမည်းမှောင်၍ပင် နေလေတော့၏။

أَوَمَن يُنَشَّأُ فِي الْحِلْيَةِ وَهُوَ فِي الْخِصَامِ غَيْرُ مُبِينٍ ﴿١٨﴾

၁၈။ မည်သို့နည်း။ လက်ဝတ်လက်စား အလှဆင်ယင်မှု၌ ပေါက်ဖွားကြီးပြင်းလာရသည့်ပြင် အချေအတင်ပြောဆိုရာ၌လည်း ရှုပ်ထွေးပွေလီစေသောသူသည် (အလ္လာဟ်အရှင်မြတ်) သမီးဖြစ်နိုင်ရန် အရည်အချင်း ရှိပါသလော။

وَجَعَلُوا الْمَلَائِكَةَ الَّذِينَ هُمْ عِبَادُ الرَّحْمَٰنِ إِنَاثًا ۚ أَشَهِدُوا خَلْقَهُمْ ۚ سَتُكْتَبُ شَهَادَتُهُمْ وَيُسْأَلُونَ ﴿١٩﴾

၁၉။ ထိုမှတစ်ပါး ၎င်းတို့သည် အနန္တကရုဏာတော်ရှင်၏ ကျွန်များ ဖြစ်ကြကုန်သော "မလာအိကဟ်" ကောင်းကင်တမန်တို့အား မိန်းမများဟူ၍ သတ်မှတ်ခဲ့ကြကုန်၏။ ၎င်းတို့သည် ထို "မလာအိကဟ်" ကောင်းကင်တမန်တို့အား ဖန်ဆင်းရာ၌ ရှေ့မှောက်ဝယ် ရှိခဲ့ကြလေသလော။ (မည်သို့ပင်ဖြစ်စေ) ၎င်းတို့၏ သက်သေထွက်ချက်သည် ရေးသား(မှတ်တမ်းတင်)ပြီး ဖြစ်ချေသည်။ ထိုမှတစ်ပါး ၎င်းတို့သည် ("ကိယာမတ်" ရှင်ပြန်ထမည့်နေ့တွင်) စစ်ဆေးမေးမြန်းခြင်းကိုလည်း ခံကြရပေဦးမည်။

وَقَالُوا لَوْ شَاءَ الرَّحْمَٰنُ مَا عَبَدْنَاهُم ۗ مَّا لَهُم بِذَٰلِكَ مِنْ عِلْمٍ ۖ

၂၀။ ထိုမှတစ်ပါး ၎င်းတို့က ပြောဆိုခဲ့ကြကုန်၏။ အကယ်၍သာ အနန္တကရုဏာတော်ရှင်သည် အလိုရှိတော်မူခဲ့ပါလျှင် ကျွန်ုပ်တို့သည် ထို"မလာအိကဟ်" ကောင်းကင်တမန်တို့အား ဆည်းကပ် ကိုးကွယ်ခဲ့ကြမည်မဟုတ်ပေ။ ဤသည်နှင့်စပ်လျဉ်း၍ ၎င်းတို့၌

إِنْ هُمْ إِلَّا يَخْرُصُونَ ﴿٢٠﴾

အသိပညာ လုံးဝမရှိပြီ။ (စင်စစ်မှာကား) ၎င်းတို့မှာ ရမ်းဆ ပြောဆိုနေကြသည်သာတည်း။

أَمْ آتَيْنَاهُمْ كِتَابًا مِّن قَبْلِهِ فَهُم بِهِ مُسْتَمْسِكُونَ ﴿٢١﴾

၂၁။ ငါအရှင်မြတ်သည် ၎င်းတို့အား ဤ(ကုရ်အာန် ကျမ်းတော်မြတ်)အလျင် ကျမ်းဂန်တစ်စောင်စောင်ကို ချီးမြှင့် ပေးသနားတော်မူခဲ့လေသလော။ သို့ဖြစ်ရာ ၎င်းတို့သည် ယင်းကျမ်းကို အားကိုးအားထားပြုလျက် ရှိကြသည်(လော)။ ①

بَلْ قَالُوا إِنَّا وَجَدْنَا آبَاءَنَا عَلَىٰ أُمَّةٍ وَإِنَّا عَلَىٰ آثَارِهِم مُّهْتَدُونَ ﴿٢٢﴾

၂၂။ ထိုသို့ အလျှင်းမဟုတ်။ စင်စစ်မှာကား ၎င်းတို့သည် (ဤသို့) ပြောဆိုကြကုန်၏။ စေန်အမှန် ကျွန်ုပ်တို့သည် မိမိတို့၏ အဘ၊ ဘိုး၊ ဘေးတို့အား သာသနာ့လမ်းစဉ် တစ်ခုပေါ်၌ တွေ့ရှိခဲ့ကြပါ၏။ စေန်မလွဲ ကျွန်ုပ်တို့သည် ထိုအဘ၊ အဘိုး၊ ဘေးတို့၏နောက်သို့ပင် ဖဝါးခြေထပ် လိုက်နာသူများပင် ဖြစ်ကြပါ၏။

وَكَذَٰلِكَ مَا أَرْسَلْنَا مِن قَبْلِكَ فِي قَرْيَةٍ مِّن نَّذِيرٍ إِلَّا قَالَ مُتْرَفُوهَا إِنَّا وَجَدْنَا آبَاءَنَا عَلَىٰ أُمَّةٍ وَإِنَّا عَلَىٰ آثَارِهِم مُّقْتَدُونَ ﴿٢٣﴾

၂၃။ ၎င်းပြင် ထိုနည်းတူစွာ ငါအရှင်မြတ်သည် မည်သည့်မြို့ရွာ၌မဆို သတိပေးနှိုးဆော်သူ (နဗီ တမန်တော်)တစ်ပါးပါးကို စေလွှတ်တော်မူခဲ့တိုင်း ယင်းမြို့ရွာမှ စည်းစိမ်ရှင်တို့က (ဤသို့) ပြောဆိုခဲ့ကြသည်သာ၊ "စင်စစ်စေန် ကျွန်ုပ်တို့သည် မိမိတို့၏ အဘ၊ ဘိုး၊ ဘေးတို့အား သာသနာ့ လမ်းစဉ်တစ်ခု ပေါ်၌ တွေ့ရှိခဲ့ကြပါ၏။ မချစေန် ကျွန်ုပ်တို့သည် ၎င်းတို့၏ ခြေရာများပေါ်၌ လိုက်ကြသူများပင် ဖြစ်ကြပါ၏။

① မှုရှိရစ်ကျ်များ၌ ၎င်းတို့၏ယုဉ်တွဲကိုးကွယ်မှုနှင့် စပ်လျဉ်း၍ အသိဉာဏ်ယုဉ်ပြိုင်နိုင်သော ယုတ္တိဒဋ္ဌိရှိလည်း ရှိသည်မဟုတ်၊ ယှဉ်တွဲကိုးကွယ်မှုသည် ကောင်းမြတ်သော ကိစ္စတစ်ရပ်ဖြစ်သည်ဟူ၍ ရေးသားပါရှိသော ကောင်းကင်ကျကျမ်းဂန်လည်းမရှိ။ ယှဉ်တွဲကိုးကွယ်မှုနှင့် စပ်လျဉ်း၍ ၎င်းတို့ထံ၌ ယုတ္တိဒဋ္ဌိလည်း မရှိ၊ အာဂမဒဋ္ဌိလည်းမရှိ။ ▶▶

قٰلَ اَوَلَوْ جِئْتُكُمْ بِاَهْدٰى مِمَّا وَجَدْتُّمْ عَلَيْهِ اٰبَآءَكُمْ ؕ قَالُوْٓا اِنَّا بِمَآ اُرْسِلْتُمْ بِهٖ كٰفِرُوْنَ ﴿٢٤﴾

၂၄။ ထိုသတိပေးနှိုးဆော်သူ (နဗီတမန်တော်)က "(အချင်းတို့၊) အကယ်၍ ငါသည် အသင်တို့ထံ အသင်တို့ မိမိတို့ အဘ၊ ဘိုး၊ ဘေးတို့ (လိုက်ခဲ့ကြသည်)ကို တွေ့ရှိခဲ့ကြလေသော လမ်းစဉ်ထက် ပိုမို (တိကျမှန်ကန်သော) တရားလမ်းမှန်ကို ညွှန်ပြအံ့သော တရားဓမ္မကို အသင်တို့ထံ ဆောင်ကြဉ်းခဲ့ပါလျက် (အသင်တို့သည် မိမိတို့၏ ရိုးရာဓလေ့များကိုသာ လိုက်စားကြမည်လော)"ဟု ပြောဆို(မေးမြန်းခဲ့)လေ၏။ (ထိုအခါ) ၎င်းတို့က "စင်စစ်ကေန် ကျွန်ုပ်တို့သည် အသင်တို့ယူဆောင်ခဲ့ကြသော တရားဓမ္မကို ယုံကြည်သူများမဟုတ်" ဟု ပြောဆိုခဲ့ကြကုန်၏။

فَانْتَقَمْنَا مِنْهُمْ فَانْظُرْ كَيْفَ كَانَ عَاقِبَةُ الْمُكَذِّبِيْنَ ﴿٢٥﴾

၂၅။ သို့ဖြစ်သောကြောင့်ပင် ငါအရှင်မြတ်သည် ၎င်းတို့အား တုံ့ပြန်လက်စားချေတော်မူခဲ့၏။ သို့ဖြစ်ပေရာ (အို-နဗီတမန်တော်) အသင်သည် မဟုတ်မမှန်ဟူ၍ စွပ်စွဲ ငြင်းပယ်ခဲ့ကြကုန်သောသူတို့၏ နောက်ဆုံးအကျိုးသည် မည်သို့မည်ပုံ ရှိခဲ့သည်ကို (လေ့လာ) ကြည့်ရှုပါလေ။

وَاِذْ قَالَ اِبْرٰهِيْمُ لِاَبِيْهِ وَقَوْمِهٖٓ اِنَّنِيْ بَرَآءٌ مِّمَّا تَعْبُدُوْنَ ﴿٢٦﴾

၂၆။ ထိုမှတစ်ပါး (ပြန်လည်သတိရရှိကြလေကုန်၊) တစ်ရံရောအခါဝယ် "တမန်တော်အီဗ်ရာဟီမ်"သည် မိမိဘခင်အားလည်းကောင်း၊ မိမိအမျိုးသားအားလည်းကောင်း၊ ပြောကြားခဲ့လေ၏။ "မုချကေန် ငါသည် အသင်တို့ ဆည်းကပ် ကိုးကွယ်ကြသည်တို့မှ ကင်းလွတ်၏။"

➤➤ အမှန်မှာ ၎င်းတို့သည် အသိဉာဏ်ကို အနည်းငယ်စိုးစဉ်းမျှပင် အသုံးမပြုဘဲ မိဘရိုးရာကိုသာ ဇွတ်မှိတ်ကာ လိုက်နာနေကြသော လူအ၊ လူအန္ဓ၊ လူ့ဗာလ၊ လူ့ဥမ္မတ္တကများသာ ဖြစ်ကြပေသည်။ ဤသည့်အကြောင်းကိုပင် ရှေ့အာယတ်တော်များတွင် မိန့်ဆိုထားတော်မူပေသည်။

إِلَّا الَّذِي فَطَرَنِي فَإِنَّهُ سَيَهْدِينِ ﴿٢٧﴾

၂၇။ အကြင် အရှင်မြတ်မှတစ်ပါး "(တစ်နည်း:) သို့ရာတွင် (ငါသည်) အကြင်အရှင်မြတ်အားသာလျှင် (ဆည်းကပ်ကိုးကွယ်၏)" ထိုအရှင်မြတ်သည် ငါ့အား ဖန်ဆင်းတော်မူခဲ့၏။ တစ်ဖန် ထိုအရှင်မြတ်သည်ပင် ငါ့အား တရားလမ်းမှန်ကို ပြသတော်မူ၏။

وَجَعَلَهَا كَلِمَةً بَاقِيَةً فِي عَقِبِهِ لَعَلَّهُمْ يَرْجِعُونَ ﴿٢٨﴾

၂၈။ ထိုမှတစ်ပါး ထိုအီဗ်ရာဟီမ်သည် ယင်း ("တောင်ဟီဒ်" တည်းဟူသောအယူဝါဒ)ကို ထို(မက္ကာဟ် မြို့သား၊ မုရှ်ရစ်က်)တို့ (အနာဂတ်ကာလ၌လည်း "တောင်ဟီဒ်" ဘက်သို့ ပြန်လှည့်ကြအံ့သောငှာ မိမိ နောက်တွင် ဆက်လက်တည်ရှိခဲ့သော စကားမွန်တစ်ရပ် ဖြစ်စေခဲ့၏။

بَلْ مَتَّعْتُ هَٰؤُلَاءِ وَآبَاءَهُمْ حَتَّىٰ جَاءَهُمُ الْحَقُّ وَرَسُولٌ مُبِينٌ ﴿٢٩﴾

၂၉။ စင်စစ်မှာကား ငါအရှင်မြတ်သည် ဤသူတို့ အားလည်းကောင်း၊ ဤသူတို့၏ အဘ၊ ဘိုး၊ ဘေးတို့ အားလည်းကောင်း၊ စည်းစိမ်ချမ်းသာကို ချီးမြှင့်တော် မူခဲ့၏။ နောက်ဆုံးတွင် ထိုသူထံသို့ (ကုရ်အာန် ကျမ်းတော်မြတ် တည်းဟူသော) အမှန်တရားသည် လည်းကောင်း၊ (အမိန့်ပညတ်တော်များကို) ဖော်ပြ ထင်ရှားစေသော ရစူလ်တမန်တော်တစ်ပါးသည် လည်းကောင်း၊ ရောက်ရှိ၍လာခဲ့၏။

وَلَمَّا جَاءَهُمُ الْحَقُّ قَالُوا هَٰذَا سِحْرٌ وَإِنَّا بِهِ كَافِرُونَ ﴿٣٠﴾

၃၀။ သို့ရာတွင် ၎င်းတို့ထံ (ကုရ်အာန်ကျမ်းတော် မြတ်တည်းဟူသော) အမှန်တရားသည် ရောက်ရှိလာခဲ့ သောအခါ ၎င်းတို့က "ဤသည် စုန်းအတတ် ပညာ ဖြစ်၏။ ၎င်းပြင် ဧကန်စင်စစ် ကျွန်ုပ်တို့သည် ဤသည်ကို ငြင်းပယ်သူများပင် ဖြစ်ကြသည်ဟု ပြောဆိုခဲ့ကြကုန်၏။

وَقَالُوۡا لَوۡلَا نُزِّلَ هٰذَا الۡقُرۡاٰنُ عَلٰى رَجُلٍ مِّنَ الۡقَرۡيَتَيۡنِ عَظِيۡمٍ ۝٣١

၃၁။ ထိုမှတစ်ပါး ၎င်းတို့က ဤကုရ်အာန်ကျမ်းမြတ်သည် ('မက္ကာဟ်မြို့' နှင့် 'သွာအစ်ဖ်မြို့') နှစ်မြို့မှ လူကြီးလူကောင်း တစ်ဦးတစ်ယောက်၏ အပေါ်၌ အဘယ်ကြောင့် ချပေးခြင်းမခံခဲ့ရသနည်း"ဟု ပြောဆိုခဲ့ကြကုန်၏။ ¹

اَهُمۡ يَقۡسِمُوۡنَ رَحۡمَتَ رَبِّكَؕ نَحۡنُ قَسَمۡنَا بَيۡنَهُمۡ مَّعِيۡشَتَهُمۡ فِى الۡحَيٰوةِ الدُّنۡيَا وَرَفَعۡنَا بَعۡضَهُمۡ فَوۡقَ بَعۡضٍ دَرَجٰتٍ لِّيَـتَّخِذَ بَعۡضُهُمۡ بَعۡضًا سُخۡرِيًّا ؕ وَرَحۡمَتُ رَبِّكَ خَيۡرٌ مِّمَّا يَجۡمَعُوۡنَ ۝٣٢

၃၂။ အသင့်အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၏ ကရုဏာတည်းဟူသော နဗီတမန်တော်အဖြစ် ချီးမြှောက်ခြင်းကို ၎င်းတို့သည်ပင် ခွဲဝေပေးကြသလော။ (စင်စစ်သော်ကား) ငါအရှင်မြတ်သည် လောကီဘဝ၌ ၎င်းတို့၏ အသက်မွေးဝမ်းကျောင်း ပရိသေသနကိစ္စ စားနပ်ရိက္ခာကိုပင် ၎င်းတို့၏အကြား၌ ခွဲဝေပေးထားတော်မူခဲ့၏။

ထိုမှတစ်ပါး ငါအရှင်မြတ်သည် ၎င်းတို့အနက် အချို့သည် အချို့အား လက်အောက်ခံ အခိုင်းအစေ ပြုအံ့သောငှာ ၎င်းတို့အနက် အချို့ကို အချို့ထက် အဆင့်အတန်းများစွာ မြှင့်ပေးတော်မူခဲ့၏။ စင်စစ်မှာကား အသင့်အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်၏ကရုဏာတော်သည် ၎င်းတို့ ဆည်းပူးစုဆောင်းလျက် ရှိကြသည်တို့ထက် သာလွန်ကောင်းမြတ်လှပေသည်။

---

(၁) အရဗ်မုရှ်ရစ်က်တို့သည် လူ့ဂုဏ်ရည်ကို ဥစ္စာဓန ရှိမရှိ၊ သြဇာအာဏာ ရှိမရှိကို ကြည့်၍ ဆုံးဖြတ်လေ့ရှိခဲ့ကြပေသည်။ ၎င်းတို့ထံ၌ လူကြီးလူကောင်းဟူသည် ဥစ္စာဓန ကုံလုံကြွယ်ဝသူ၊ သြဇာအာဏာရှိသူသာလျှင် ဖြစ်ခဲ့ပေသည်။ လူကြီးလူကောင်းဖြစ်မှု၏ မှတ်ကျောက်မှာ-ဥစ္စာနှင့်အာဏာသာ ဖြစ်ခဲ့ပေသည်။ ၎င်းတို့က ဥစ္စာနှင့်အာဏာမှအပ အခြား အဖိုးမဖြတ်နိုင်သော သစ္စာသမာဓိရှိမှု၊ ရိုးသားမှု၊ မှန်ကန်မှု၊ ဖြောင့်မတ်တည်ကြည်မှု၊ ကိုယ်ကျင့်တရား ကောင်းမြတ်မှု၊ နှလုံးရည်ပြည့်ဝမှုစသည့် ဂုဏ်ရည်များကိုမူ မသိခဲ့ကြပေ။

ထို့အတွက်ကြောင့်လည်း ၎င်းတို့က "ကုရ်အာန်ကျမ်းမြတ်သည် ကျရောက်ပါကလည်း ဤမြို့ရွာကြီးနှစ်ခုဖြစ်သော မက္ကာမြို့တော်သို့မဟုတ် တွာအိဖ်မြို့မှ ဥစ္စာဓနကုံလုံကြွယ်ဝသော သြဇာအာဏာရှိသော ပုဂ္ဂိုလ်တစ်ဦးဦးအပေါ်၌သာကျရောက်သင့်ပေသည်ဟု အမြော်အမြင်ကျဉ်းမြောင်းစွာဖြင့် ဝေဖန်ပြောဆိုခဲ့ကြပေသည်၊ ➤➤

وَلَوْلَآ أَن يَكُونَ ٱلنَّاسُ أُمَّةً وَٰحِدَةً لَّجَعَلْنَا لِمَن يَكْفُرُ بِٱلرَّحْمَٰنِ لِبُيُوتِهِمْ سُقُفًا مِّن فِضَّةٍ وَمَعَارِجَ عَلَيْهَا يَظْهَرُونَ ﴿٣٣﴾

၃၃။ စင်စစ်မှာကား အကယ်၍သာ လူခပ်သိမ်းတို့သည် (မိစ္ဆာ)သာသနာဝင် အုပ်စုတစ်စုတည်းသာ ဖြစ်သွားကြရန် အကြောင်းမရှိခဲ့ပါလျှင် အမှန်ပင်ငါအရှင်မြတ်သည် အနန္တ ကရုဏာတော်ရှင်အားသွေဖည် ငြင်းပယ်ကြကုန်သော သူတို့အဖို့ ၎င်းတို့နေအိမ်များ၏အမိုးတို့ကို ငွေဖြင့်ပြုလုပ်၍ ပေးတော်မူခဲ့မည်သာ၊ ၎င်းပြင် လှေကားများကိုလည်း (ငွေဖြင့်ပြုလုပ်၍ ပေးတော်မူခဲ့မည်သာ၊) ၎င်းတို့သည် ယင်း(လှေကားများဖြင့်) အမိုးများသို့ တက်ကြပေမည်။

وَلِبُيُوتِهِمْ أَبْوَٰبًا وَسُرُرًا عَلَيْهَا يَتَّكِـُٔونَ ﴿٣٤﴾

၃၄။ ထိုမှတစ်ပါး ထိုသူတို့နေအိမ်များ၏ တံခါးများကိုလည်းကောင်း၊ ထိုသူတို့မှီ၍ ထိုင်ကြကုန်သော ခုတင်များကိုလည်းကောင်း၊ (ငွေဖြင့် ပြုလုပ်၍ ပေးတော်မူခဲ့ပေမည်)။ ၁

➤➤ ဆိုလိုသည်ကား (တမန်တော်မြတ်) မုဟမ္မဒ်၌ ဥစ္စာဓနလည်းမရှိ၊ သြဇာအာဏာလည်းမရှိ။ အလ္လာဟ်အရှင်မြတ်သည် မက္ကာမြို့တော်နှင့်တွာအိဖ်မြို့တွင် ဥစ္စာဓန ကုံလုံကြွယ်ဝသော၊ သြဇာအာဏာရှိသော ပုဂ္ဂိုလ်ကြီးများ ရှိနေပါလျက်၊ ၎င်းတို့အနက် တစ်ဦးတစ်ယောက်ကိုမျှ ရွေးချယ်တော်မမူဘဲ ဥစ္စာဓနမရှိသော၊ သြဇာအာဏာမရှိသော (တမန်တော်မြတ်) မုဟမ္မဒ်အားရွေးချယ်၍ ကုရ်အာန်ကျမ်းမြတ်ကို ချီးမြှောက်တော်မူသည်ကို ငါတို့လက်မခံ၊ မယုံကြဟူ၏။ ဤကား မထူးဆန်းပေ။ ယခုခေတ်တွင်သော်မှပင် ဥစ္စာရှိသူ၊ အာဏာရှိသူကိုမှပင် လူထင်နေသူများ အများအပြား တွေ့ရှိရပေသည်။

၁ အလ္လာဟ်အရှင်မြတ်ထံတော်၌ လောကီစည်းစိမ်သည် စိုးစဉ်းမျှပင် တန်ဖိုးမရှိပေ။ လောကီဆိုင်ရာ ရွှေငွေစသည့် ဥစ္စာဓနသည် အဘယ်မျှ တန်ဖိုးမရှိသည်ဆိုသော် အလိုတော်နှင့်ဆန့်ကျင်သည့် အကြောင်းမရှိပါက- အလ္လာဟ်အရှင်မြတ်သည် ကာဖိရ်တို့၏အိမ်များ၊ အမိုး၊ အခင်း၊ လှေကား၊ တံခါး၊ အိပ်ရာစသည်များကို ရွှေသား၊ ငွေသားဖြင့် မုချပြုလုပ်ပေးတော်မူအံ့။ သို့ကာဖိရ်များအား ရွှေအိမ်၊ ငွေအိမ်များ ပြုလုပ်ပေးတော်မူလိုက်ပါက ဤပစ္စက္ခတွင် ကာဖိရ်များသာလျှင် ရွှေအိမ် ငွေအိမ်များနှင့် နေထိုင်ကြရသည်ကိုကြည့်ပြီး လူများသည် များသောအားဖြင့် ကာဖိရ်ဖြစ်ကုန်ကြပေမည်။ ဤသည် အလ္လာဟ်အရှင်မြတ်၏ အလိုတော်နှင့် ဆန့်ကျင်သည်။ ထို့အတွက်ကြောင့်ပင် ယင်းသို့ပြုလုပ်ပေးတော် မမူခြင်းဖြစ်သည်။

တမန်တော်မြတ်၏ သြဝါဒတော်များတွင် လာရှိသည်မှာ "အကယ်၍သာ ဤပစ္စက္ခသည် အလ္လာဟ်အရှင်မြတ်ထံတော်၌ ယင်ကောင်တစ်ကောင်၏ အတောင်မျှပင် တန်ဖိုးရှိပါက ထိုအရှင်မြတ်သည် ကာဖိရ်ကို ရေတစ်စက်မျှပင် တိုက်ကျွေးတော်မူမည် မဟုတ်ပေ။" ကြည့်-အီဗ်နုကဆီရ်။

وَزُخْرُفًا ۚ وَإِن كُلُّ ذَٰلِكَ لَمَّا مَتَاعُ الْحَيَاةِ الدُّنْيَا ۚ وَالْآخِرَةُ عِندَ رَبِّكَ لِلْمُتَّقِينَ ﴿٣٥﴾

၃၅။ ထိုမှတစ်ပါး (ယင်းပစ္စည်းများကို) ရွှေဖြင့်လည်း (ပြုလုပ်၍ပေးတော်မူခဲ့ပေမည်၊) သို့ရာတွင် ထို(ပစ္စည်း)အလုံးစုံတို့မှာ မျက်မှောက်လောကီဘဝ၏ အသုံးအဆောင်မျှသာလျှင် ဖြစ်ကုန်၏။ အမှန်စင်စစ်သော်ကား "အာခိရတ်" တမလွန်ဘဝမှာ အသင့်အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်အထံတော်၌ သူတော်စင်တို့အဖို့သာလျှင် ဖြစ်ပေသတည်း။ [၁]

وَمَن يَعْشُ عَن ذِكْرِ الرَّحْمَٰنِ نُقَيِّضْ لَهُ شَيْطَانًا فَهُوَ لَهُ قَرِينٌ ﴿٣٦﴾

၃၆။ စင်စစ်သော်ကား မည်သူမဆို အနန္တကရုဏာတော်ရှင်အား အောက်မေ့တသခြင်းကို မမြင်ဟန် မသိဟန်ဆောင်သည်ရှိသော် ငါအရှင်မြတ်သည် ထိုသူ၌ "ရှိုင်တွာန်" မိစ္ဆာကောင်တစ်ကောင်ကို သတ်မှတ်၍ ပေးတော်မူ၏။ ထိုအခါ ယင်း "ရှိုင်တွာန်" မိစ္ဆာကောင်မှာ ထိုသူ၏အဖော် ဖြစ်သွား၏။

وَإِنَّهُمْ لَيَصُدُّونَهُمْ عَنِ السَّبِيلِ وَيَحْسَبُونَ أَنَّهُم مُّهْتَدُونَ ﴿٣٧﴾

၃၇။ ၎င်းပြင် ယင်း "ရှိုင်တွာန်" မိစ္ဆာကောင်တို့မှာ ထိုသူတို့အား (ဖြောင့်မတ်မှန်ကန်သောတရား) လမ်းမှ ပိတ်ပင် တားဆီးလေ့ရှိကြကုန်၏။ သို့ရာတွင် ထိုသူတို့သည် မိမိတို့မှာ လမ်းမှန်ကို ရရှိသူများ ဖြစ်ကြသည် ဟူ၍ပင် ထင်မှတ်လေ့ရှိကြကုန်၏။

حَتَّىٰ إِذَا جَاءَنَا قَالَ يَا لَيْتَ

၃၈။ နောက်ဆုံးတွင် ထိုမသိဟန်ဆောင်သောသူသည် ငါအရှင်မြတ်အထံတော်သို့ ရောက်လေသော အခါ (ယင်း "ရှိုင်တွာန်" မိစ္ဆာကောင်အား ဤသို့)

---

(၁) လောကီစည်းစိမ်များသည် အဘယ်မျှပင် များပြားလင့်ကစား၊ တကမ္ဘာလုံးကိုပင် ပိုင်ဆိုင်ထားလင့်ကစား သခၤါရမျှသာဖြစ်သည်။ တစ်ရက် ထားခဲ့ရမည်သာဖြစ်သည်။ တန်ဖိုးထားရာ မဟုတ်၊ မက်မောစရာမဟုတ်။ တန်ဖိုးထားရာ မက်မောရာကား နောင်တမလွန်ဘဝသာလျှင် ဖြစ်သည်။ နောင်တမလွန်ဘဝသည် သခၤါရမဟုတ်။ နောင်တမလွန်ဘဝ၏ အမတသုခများသည်လည်း သခၤါရမဟုတ်၊ ယင်းသည့် နောင်တမလွန်ဘဝ၏ အမတသုခများသည် အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ရိုသေခန့်ညားသော၊ အမိန့်တော်ကို နာယူကျင့်မူသော မုအ်မင်န် သူတော်စင်များအဖို့သာဖြစ်သည်။ (ကာဖိရ်များအဖို့ မဟုတ်ပါချေ။)

بَيْنِيْ وَبَيْنَكَ بُعْدَ الْمَشْرِقَيْنِ فَبِئْسَ الْقَرِيْنُ ۝٣٨

ပြောဆိုအံ့၏။ သြော်-ကျွန်ုပ်နှင့် အသင်၏အကြား၌ "အရှေ့" နေထွက်ရာအရပ်နှင့် "အနောက်" နေဝင်ရာ အရပ်မျှ ဝေးကွာခဲ့လျှင် ကောင်းလေစွတကား။ စင်စစ် မှာကား ယင်း"ရှိုင်တွာန်" မိတ္တာကောင်သည် လွန်စွာ ဆိုးယုတ်လှသော အဖော်ဖြစ်၏။

وَلَنْ يَّنْفَعَكُمُ الْيَوْمَ اِذْ ظَّلَمْتُمْ اَنَّكُمْ فِي الْعَذَابِ مُشْتَرِكُوْنَ ۝٣٩

၃၉။ ထိုမှတစ်ပါး အသင်တို့ကိုယ်တိုင် မတရား ကျူးလွန်ခဲ့ကြသောကြောင့် ယင်း(ယှဉ်တွဲမှုဖြစ်ခြင်း) သည် ယနေ့ အသင်တို့အဖို့ အလျှင်းအကျိုးပေးမည် မဟုတ်ပေ။ ဧကန်မလွဲ အသင်တို့သည် (ထိုအဖော်များ ဖြစ်ကြသော "ရှိုင်တွာန်" မိတ္တာကောင်တို့နှင့်အတူ) ပြစ်ဒဏ်၌ ဖက်စပ်ပါဝင်သူများပင် ဖြစ်ကြကုန်၏။

اَفَاَنْتَ تُسْمِعُ الصُّمَّ اَوْ تَهْدِى الْعُمْىَ وَمَنْ كَانَ فِيْ ضَلٰلٍ مُّبِيْنٍ ۝٤٠

၄၀။ သို့ဖြစ်ပေရာ(အို-နဗီတမန်တော်) အသင်သည် နားပင်းသူတို့အား (ဓမ္မသြဝါဒကို) ကြားစေနိုင်ပါ သလော။ သို့တည်းမဟုတ် အသင်သည် မျက်စိကန်းသူ တို့အားလည်းကောင်း၊ ထင်ရှားလှစွာသောလမ်းမှား၌ ရှိနေသူတို့အားလည်းကောင်း၊ တရားလမ်းမှန်ကို ညွှန်ပြနိုင်ပါသလော။

فَاِمَّا نَذْهَبَنَّ بِكَ فَاِنَّا مِنْهُمْ مُّنْتَقِمُوْنَ ۝٤١

၄၁။ တစ်ဖန် အကယ်၍ ငါအရှင်မြတ်သည် အသင့် အား(ဤလောကမှ)ဆောင်ယူသွားတော်မူပါလျှင်လည်း ဧကန်မလွဲ ငါအရှင်မြတ်သည် ၎င်းတို့အား လက်စား ချေတော်မူအံ့သော အရှင်မြတ်ပင် ဖြစ်တော်မူ၏။

اَوْ نُرِيَنَّكَ الَّذِيْ وَعَدْنٰهُمْ فَاِنَّا عَلَيْهِمْ مُّقْتَدِرُوْنَ ۝٤٢

၄၂။ သို့တည်းမဟုတ် ငါအရှင်မြတ်သည် ၎င်းတို့ အား ချိန်းချက်တော်မူခဲ့သောပြစ်ဒဏ်ကို အသင်အား (အသင်သည် ဤလောကီဘဝ၌ ရှိနေစဉ်) ပြသတော် မူအံ့လည်း မလွဲဧကန် ငါအရှင်မြတ်သည် ၎င်းတို့ အပေါ်၌ (ပြစ်ဒဏ်သက်ရောက်စေခြင်းကို) ပြုစွမ်း နိုင်တော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူ၏။

فَاسْتَمْسِكْ بِالَّذِىٓ أُوحِىَ إِلَيْكَ ۖ إِنَّكَ عَلَىٰ صِرَٰطٍ مُّسْتَقِيمٍ ﴿٤٣﴾

၄၃။ သို့ဖြစ်ပေရာ (အို-နဗီတမန်တော်) အသင်သည် မိမိထံ "ဝဟ်ယ်" ထုတ်ပြန်ခြင်းခံရလေသော ကုရ်အာန်ကျမ်းတော်မြတ်ကိုပင် အထောက်အထားပြုလျက် ရှိပါလေ။ ကေန်မလွဲ အသင်သည် ဖြောင့်မတ်သော လမ်းပေါ်၌ ရှိ၏။

وَإِنَّهُۥ لَذِكْرٌ لَّكَ وَلِقَوْمِكَ ۖ وَسَوْفَ تُسْـَٔلُونَ ﴿٤٤﴾

၄၄။ ထိုမှတစ်ပါး မုချဧကန် ယင်းကုရ်အာန်ကျမ်း*တော်မြတ်သည် အသင်အဖို့လည်းကောင်း၊ အသင်၏ အမျိုးသားအဖို့လည်းကောင်း၊ (ထူးကဲမြင့်မြတ်လှစွာသော) ဂုဏ်ကျက်သရေပင် ဖြစ်၏။* [1] ထိုမှတစ်ပါး အသင်တို့အားလုံးသည် မကြာမြင့်မီပင် စစ်ဆေးမေးမြန်းခြင်းကို ခံကြရပေမည်။

وَسْـَٔلْ مَنْ أَرْسَلْنَا مِن قَبْلِكَ مِن رُّسُلِنَآ أَجَعَلْنَا مِن دُونِ ٱلرَّحْمَـٰنِ ءَالِهَةً يُعْبَدُونَ ﴿٤٥﴾

၄၅။ ၎င်းပြင် (အို-နဗီတမန်တော်) အသင်သည် မိမိအလျှင် ငါအရှင်မြတ် စေလွှတ်တော်မူခဲ့သော ရစူလ်တမန်တော်တို့အား "ငါအရှင်မြတ်သည် အနန္တကရုဏာတော်ရှင်မှတစ်ပါး ဆည်းကပ်ကိုးကွယ်ခြင်း ခံကြရန် အခြားကိုးကွယ်ရာများကို ပြဋ္ဌာန်း၍ ပေးတော်မူခဲ့ပါသလော" ဟု မေးမြန်းစုံစမ်း၍ ကြည့်ပါလေ။

---

(၁) ကုရ်အာန်ကျမ်းမြတ်သည် အမှန်မှာ တမန်တော်မြတ်အဖို့ လည်းကောင်း၊ တမန်တော်မြတ်၏ အမျိုးသားများအဖို့ လည်းကောင်း၊ အတိုင်းမသိ ကြီးကဲလှသော မြင့်မြတ်မှု ဂုဏ်တစ်ပါးပင်။ တမန်တော်မြတ်အဖို့မှာ နှစ်ဘဝ၏ သုခချမ်းသာဆောင်သော၊ ကမ္ဘာတစ်သက် တည်ရှိမည်ဖြစ်သော ကုရ်အာန်ကျမ်းလာ ဒေသနာတော်များကို တမန်တော်မြတ်သည် တိုက်ရိုက်ကြားနာတော်မူခဲ့ရသည်။ တမန်တော်မြတ်၏ အမျိုးသားများအဖို့မှာကား တမန်တော်မြတ်မှတဆင့် ကုရ်အာန်ကျမ်းလာ ဒေသနာတော်များကို နာကြားရာ၌ ကမ္ဘာတဝှန်းတွင် ၎င်းတို့သည် ဦးစွာပထမ ကြားနာခဲ့ကြရပေသည်။ ကြားနာရာတွင်လည်း ကုရ်အာန်ကျမ်းမြတ်သည် ၎င်းတို့၏ အရဗ်ဘာသာစာပေဖြင့် ကျရောက်လာခဲ့သည့်အတွက် ကောင်းစွာသဘောပေါက် နားလည်ခဲ့ကြပေသည်။ ကျန်လူသားတို့မှာ ၎င်းတို့မှတဆင့် ကြားနာကြရပေသည်။

ဤသို့ဖြင့် ကုရ်အာန်ကျမ်းမြတ်သည် တမန်တော်မြတ်နှင့် တမန်တော်မြတ်၏ အမျိုးသားများအဖို့ ကိယာမတ်တိုင် မွေးကြိုင်လျက်ရှိမည့် အတိုင်းမသိ ကောင်းမြတ်လှသည့် ဂုဏ်သတင်းပင်။ အရဗ်အမျိုးသားများသည် အသိဉာဏ်ရှိပါက ကုရ်အာန်ကျမ်းလာ ဒေသနာတော်များကို ဦးစွာပထမ ကြားနာကြရသူများ ➢➢

وَلَقَدْ أَرْسَلْنَا مُوسَىٰ بِآيَاتِنَا إِلَىٰ فِرْعَوْنَ وَمَلَئِهِ فَقَالَ إِنِّي رَسُولُ رَبِّ الْعَالَمِينَ ﴿٤٦﴾

၄၆။ ၎င်းပြင် စင်စစ်ကေန် ငါအရှင်မြတ်သည် မူစာအား မိမိသက်သေလက္ခဏာ တန်ခိုးပြာဋိဟာများနှင့် တကွ "ဖစ်ရ်အောင်န်" ၏ထံသို့လည်းကောင်း၊ "ဖစ်ရ်အောင်န်" ၏မှူးမတ်ထံသို့လည်းကောင်း၊ စေလွှတ်တော်မူခဲ့ရာ ထိုမူစာက ("ဖစ်ရ်အောင်န်နှင့်တကွ၎င်း၏မှူးမတ်တို့အား) ငါသည် စကြာဝဠာ ခပ်သိမ်းတို့ကို ဖန်ဆင်းမွေးမြူသောအရှင်မြတ်၏ ရစူလ်တမန်တော်ဖြစ်သည်ဟု ပြောကြားခဲ့၏။

فَلَمَّا جَاءَهُم بِآيَاتِنَا إِذَا هُم مِّنْهَا يَضْحَكُونَ ﴿٤٧﴾

၄၇။ သို့ရာတွင် ထိုမူစာသည် ၎င်းတို့ထံ ငါအရှင်မြတ်၏သက်သေလက္ခဏာ တန်ခိုးပြာဋိဟာများကို ယူဆောင်ခဲ့လေသောအခါ ရုတ်တရက် ၎င်းတို့သည် ယင်းသက်သေလက္ခဏာ တန်ခိုးပြာဋိဟာများကို မြင်၍ ပြက်ရယ်သောအားဖြင့် ရယ်မောကြကုန်၏။

وَمَا نُرِيهِم مِّنْ آيَةٍ إِلَّا هِيَ أَكْبَرُ مِنْ أُخْتِهَا ۖ وَأَخَذْنَاهُم بِالْعَذَابِ لَعَلَّهُمْ يَرْجِعُونَ ﴿٤٨﴾

၄၈။ စင်စစ်သော်ကား ငါအရှင်မြတ်သည် ၎င်းတို့အား ပြသတော်မူသော သက်သေလက္ခဏာ တန်ခိုးပြာဋိဟာတိုင်းမှာ ၎င်း၏အလျင်ပြခဲ့သော အခြားတန်ခိုးပြာဋိဟာထက် ပိုမိုကြီးကျယ်သော တန်ခိုးပြာဋိဟာသာလျှင် ဖြစ်ခဲ့၏။ ထို့ပြင် ငါအရှင်မြတ်သည် ၎င်းတို့အား (သွေဖည်ငြင်းပယ်မှုကို စွန့်၍) ပြန်လှည့်လာကြအံ့သောငှာ ပြစ်ဒဏ်၌ ဖမ်းဆီးအရေးယူတော်မူခဲ့၏။

وَقَالُوا يَا أَيُّهَ السَّاحِرُ ادْعُ

၄၉။ ထိုမှတစ်ပါး ၎င်းတို့သည် (မူစာအား ဤသို့) ပြောဆိုခဲ့ကြ၏။ အို-စုန်းအတတ်ကို ကျွမ်းကျင်သောဆရာ၊ အသင်သည် ကျွန်ုပ်တို့အဖို့ အသင့်အားဖန်ဆင်း

>> ဖြစ်ကြသည်နှင့် လျော်ညီစွာ ကုရ်အာန်ကျမ်းလာ ဒေသနာတော်များကို ဦးလည်မသုန် လိုက်နာကျင့်၍ နှစ်ဘဝ၏ အမတ သုခများကိုလည်း ဦးစွာစံစားနိုင်ရန် ကြိုးစားကြရာသတည်း။

لَنَا رَبَّكَ بِمَا عَهِدَ عِنْدَكَ ۚ إِنَّنَا لَمُهْتَدُونَ ﴿٤٩﴾

မွေးမြူတော်မူသော အရှင်မြတ်ထံတော်မှ အသင့်ထံ ကတိထားတော်မူခဲ့သည်နှင့်အညီ ဆုတောင်း၍ပေးပါ။ (ယခုသော်) မလွဲဧကန် ကျွန်ုပ်တို့သည် တရားလမ်းမှန်ကို လိုက်နာကြပါတော့မည်။

فَلَمَّا كَشَفْنَا عَنْهُمُ الْعَذَابَ إِذَا هُمْ يَنْكُثُونَ ﴿٥٠﴾

၅၀။ သို့တစေလည်း ငါအရှင်မြတ်သည် ပြစ်ဒဏ်ကို ၎င်းတို့မှဖယ်ရှား၍ ပေးတော်မူသောအခါ ၎င်းတို့သည် ရုတ်တရက် ချက်ချင်းပင် ကတိကို ဖျောက်ဖျက်ကြလေသတည်း။

وَنَادَىٰ فِرْعَوْنُ فِي قَوْمِهِ قَالَ يَا قَوْمِ أَلَيْسَ لِي مُلْكُ مِصْرَ وَهَٰذِهِ الْأَنْهَارُ تَجْرِي مِنْ تَحْتِي ۖ أَفَلَا تُبْصِرُونَ ﴿٥١﴾

၅၁။ ၎င်းပြင် ဖစ်ရ်အောင်န်သည် မိမိအမျိုးသားတို့တွင် ကြေညာခဲ့၏။ ၎င်းက (ဤသို့)ပြောဆို(ကြေညာ)ခဲ့လေ၏။ အို-ငါ၏အမျိုးသားတို့ အီဂျစ်နိုင်ငံကို ငါသာလျှင် စိုးမိုးအုပ်ချုပ်သည်မဟုတ်ပါလော၊ ထိုမှတစ်ပါး ဤသည့် ရေချောင်းတို့မှာ ငါ၏(ဘုံနန်း) အောက်မှ စီးတွေလျက် ရှိကြသည် (မဟုတ်လော)။ သို့ပါလျက် အသင်တို့သည် (ဤသည့် ဘုန်းတန်ခိုးများကို) မမြင်ကြလေသလော။

أَمْ أَنَا خَيْرٌ مِنْ هَٰذَا الَّذِي هُوَ مَهِينٌ وَلَا يَكَادُ يُبِينُ ﴿٥٢﴾

၅၂။ သို့တည်းမဟုတ် ငါသည် ဤဂုဏ်အသရေသေးသိမ်သူထက် မြင့်မြတ်သည်(ကို အသင်တို့သည် မမြင်ကြလေသလော)။ ၎င်းပြင် ဤသူသည် ရှင်းလင်းစွာ (စကား)ပြောဆိုနိုင်သည်လည်း မရှိပြီ။ [၁]

---

⑴ ဆိုလိုသည်ကား ဖစ်ရ်အောင်န်သည် မိမိ၏ငယ်သားများနှင့် ပတ်သက်၍ ပြစ်ဒဏ်သဘောပါရှိသော ဘန်ခိုး ပြာဋိဟာများကို တွေ့မြင်ခံစားရပြီး တမန်တော်မူစာအား တပည့်ခံသွားကြမည်ကို စိုးရိမ်လာခဲ့၏။

ထိုအခါ ဖစ်ရ်အောင်န်က မိမိငယ်သားများအား လှည့်စားဖြားယောင်းရန်အတွက် "အီဂျစ်ပြည်၏ အုပ်ချုပ်မှု အာဏာစက်သည် ငါ၏လက်တွင်း၌ရှိသည် မဟုတ်လော၊ ငါ၏စီမံမှုဖြင့် ငါ့နန်းတော် ဥယျာဉ်များ အောက်များတွင် အယဉ်တွေတွေ စီးတွေလျက်ရှိသော တူးမြောင်းများကို အသင်တို့ မမြင်ကြလေသလော။ ငါ့၌ လိုလေသေးသည်မရှိ ဥစ္စာဓနရှိသည်။ တိုင်းပြည်မင်းလုပ် အုပ်ချုပ်သည့် အာဏာစက်လည်းရှိသည်။ (တမန်တော်)မူစာ၌ ဥစ္စာဓနလည်းမရှိ၊ အာဏာလည်းမရှိ၊ ဂုဏ်အသရေလည်းမရှိ၊ ထို့ပြင်တစ စကားပင် ➢➢

فَلَوْلَآ أُلْقِيَ عَلَيْهِ أَسْوِرَةٌ مِّن ذَهَبٍ أَوْ جَآءَ مَعَهُ ٱلْمَلَٰٓئِكَةُ مُقْتَرِنِينَ ﴿٥٣﴾

၅၃။ တစ်ဖန် ၎င်း၏(လက်များတွင်) ရွှေလက်ကောက်၊ လက်မောင်းပတ်၊ လက်ကြပ်များ အဘယ်ကြောင့် ဆင်ယင်ပေးခြင်းကို မခံရသနည်း။ သို့တည်းမဟုတ် "မလာအိကဟ်" ကောင်းကင်တမန်များသည် အဘယ်ကြောင့် ၎င်းနှင့်အတူ အစဉ်မပြတ် လိုက်ပါလာခြင်း မရှိကြသနည်း။

فَٱسْتَخَفَّ قَوْمَهُۥ فَأَطَاعُوهُ ۚ إِنَّهُمْ كَانُوا۟ قَوْمًا فَٰسِقِينَ ﴿٥٤﴾

၅၄။ ဆိုလိုရင်းမှာ ထိုဖစ်ရ်အောင်န်သည် မိမိ၏အမျိုးသားတို့အား လူ့ဗာလများ ပြုလုပ်ခဲ့ပေရာ ထိုအမျိုးသားတို့မှာ ၎င်းတို့၏စကားကို နာယူခဲ့ကြကုန်၏။ စင်စစ်အမှန် ၎င်းတို့သည် စည်းကမ်းကျူးလွန်သော လေလွင့်သောအမျိုးသားများပင်ဖြစ်ခဲ့ကြကုန်၏။

فَلَمَّآ ءَاسَفُونَا ٱنتَقَمْنَا مِنْهُمْ فَأَغْرَقْنَٰهُمْ أَجْمَعِينَ ﴿٥٥﴾

၅၅။ ထို့နောက် ၎င်းတို့သည် ငါအရှင်မြတ်အား အမျက်ထွက်စေခဲ့ကြသောအခါ ငါအရှင်မြတ်သည် ၎င်းတို့အား လက်စားချေတော်မူခဲ့၏။ သို့ဖြစ်ပေရာ ငါအရှင်မြတ်သည် ၎င်းတို့အားလုံးကိုပင် နစ်မြုပ်စေတော်မူခဲ့၏။

فَجَعَلْنَٰهُمْ سَلَفًا وَمَثَلًا لِّلْءَاخِرِينَ ﴿٥٦﴾

၅၆။ ထို့နောက် ငါအရှင်မြတ်သည် ထိုသူတို့အား နောင်လာနောက်သားတို့အဖို့ ဦးစီးရှေ့ဆောင်နှင့် သင်ခန်းစာ ဖြစ်စေတော်မူခဲ့ပေသတည်း။ ၁

➤➤ သွက်လက်စွာ မပြောနိုင်ရှာ၊ အမှန်မှာ ငါသည်အဘက်ဘက်၌ (တမန်တော်)မူစာထက် ထူးကဲမြင့်မြတ်သည်။ သို့ပါလျက် ငါကဲ့သို့ ဘုရင်တစ်ပါးသည် (တမန်တော်)မူစာကဲ့သို့ သာမန်ပုဂ္ဂိုလ်တစ်ဦးအား အညွှံခံရမည်လောဟု ဖြီးဖျန်း၍ ပြောဆို ဟိန်းဟောက်ခဲ့လေသည်။

တမန်တော်မူစာ သွက်လက်စွာ စကားမပြောနိုင်သည့်အကြောင်း ကုရ်အာန်ကျမ်းမြတ် (၂၀:၂၇-၂၈)တွင် ပါရှိခဲ့ပေပြီ။

① ဖစ်ရ်အောင်န်နှင့်တကွ ၎င်း၏နောက်လိုက်ငယ်သားတို့သည် တမန်တော်မူစာ ဟောကြားသော ဒေသနာတော်များကို အမြဲတစေ သွေဖည်ငြင်းဆန်၍ အလ္လာဟ်အရှင်မြတ်၏ အမျက်တော်ကို လက်ယပ်ခေါ်နေကြပေရာ နောက်ဆုံးတွင် ထိုအရှင်မြတ်သည် ၎င်းတို့အား နစ်မြုပ်ကွပ်မျက်တော် မူခဲ့လေသည်။ နောင်လာ နောက်သားတို့သည် ၎င်းတို့၏ အကြောင်းကိုကြည့်ပြီး နောင်တ သံဝေဂရနေရန် ၎င်းတို့အား နောက်လူဆက်တို့အဖို့➤➤

وَلَمَّا ضُرِبَ ابْنُ مَرْيَمَ مَثَلًا إِذَا قَوْمُكَ مِنْهُ يَصِدُّونَ ﴿٥٧﴾

၅၇။ ငင်းပြင် မရ်ယမ်၏သား(နဗီတမန်တော်အီစာ)သည် စံနမူနာအဖြစ် ခိုင်းနှိုင်းတင်ပြခြင်းကို ခံရလေသောအခါ၊ အသင်၏အမျိုးသားတို့မှာ ယင်းဥပမာကြောင့် နှစ်ထောင်းအားရ ရွှင်ပြုဟစ်အော်ခဲ့ကြကုန်၏။

وَقَالُوا أَآلِهَتُنَا خَيْرٌ أَمْ هُوَ مَا ضَرَبُوهُ لَكَ إِلَّا جَدَلًا بَلْ هُمْ قَوْمٌ خَصِمُونَ ﴿٥٨﴾

၅၈။ ထိုမှတစ်ပါး ၎င်းတို့က ကျွန်ုပ်တို့၏ ကိုးကွယ်ရာများက မြင့်မြတ်လေသလော။ သို့တည်းမဟုတ် ထိုမရ်ယမ်၏သား (အီစာ)က မြင့်မြတ်လေသလောဟု ပြောဆိုခဲ့ကြကုန်၏။ ၎င်းတို့သည် ဤသည်ကို အသင့်ရှေ့ဝယ် အငြင်းအခုံပြု၍ တင်ပြခဲ့ခြင်းသာလျှင် ဖြစ်ပေသည်။ စင်စစ်မှာကား ၎င်းတို့သည် အငြင်းအခုံပြုလေ့ရှိသော အမျိုးသားများပင် ဖြစ်ကြကုန်၏။ ၁

>> တရားရှုယ်ရာ အတိတ်အုပ်စု တစ်စုအဖြစ်လည်း ပြုလုပ်ထားတော်မူခဲ့လေသည်။ ဤကား မောက်မာပလွှားဝါကြွားသော ဖစ်ရ်အောင်န်တို့၏ နောက်ဆုံးအကျိုးဆက်ပင်။

① တမန်တော်အီစာ၏အကြောင်း ပါရှိလာသည့်အခါ အရဗ်မုရှိရစ်က်များသည် လက်ခုပ်တီးလေ့ရှိကြသည်။ ဆူဆူညံညံ ပြုလုပ်လေ့ရှိခဲ့ကြသည်။ ဟစ်အော်လေ့ရှိခဲ့ကြသည်။ အမျိုးမျိုး ဝေဖန်ပြောဆိုလေ့ရှိခဲ့ ကြသည်။

ရိဝါယတ် ကျမ်းချက်များတွင် လာရှိသည်မှာ တစ်ခါသော် တမန်တော်မြတ်သည် ကုရ်အာန်ကျမ်းလာ အာယတ်တော်(၂၁း၉၈) ( إِنَّكُمْ وَمَا تَعْبُدُونَ مِن دُونِ اللَّهِ حَصَبُ جَهَنَّمَ أَنتُمْ لَهَا وَارِدُونَ )ကို ရွတ်ဖတ်တော်မူခဲ့၏။

ထိုအာယတ်တော်၏ အနက်အဓိပ္ပာယ်မှာ "မုချကေန် အသင်တို့သည် လည်းကောင်း၊ အသင်တို့ ဆည်းကပ်ကိုးကွယ်ကြသော ကိုးကွယ်ရာများသည် လည်းကောင်း ဂျဟန္နမ်၏ ထင်းပင်ဖြစ်ကြသည်။ အသင်တို့သည် ထိုဂျဟန္နမ်အတွင်းသို့ ဝင်ကြရမည်"ဟူ၏။

ထိုအခါ အရဗ်မုရှိရစ်က်များက (နဆွာရာ)ခေါ် ခရစ်ယာန်ဘာသာဝင်များသည် တမန်တော်အီစာအား ဆည်းကပ် ကိုးကွယ်ကြသည်။ ယခု အသင်တို့ပြောကြ၊ အသင်တို့၏ ထင်မြင်ယူဆချက်အရ ငါတို့၏ ကိုးကွယ်ရာများ ကောင်းသလော၊ သို့မဟုတ် တမန်တော်အီစာ ကောင်းသလော၊ အသင်တို့သည် တမန်တော်အီစာအား ကောင်းသည်ဟူ၍ပင် ပြောဆိုကြပေမည်။

ဤသည် အထင်အရှားပင်။ တမန်တော်အီစာသည်ပင် အဆိုပါ အာယတ်တော်တွင် အကျုံးဝင်နေသည် ဖြစ်ရာ၊ ငါတို့၏ ကိုးကွယ်ရာများသည်လည်း အဆိုပါ အာယတ်တော်တွင် အကျုံးဝင်ကြပါစေဟု အမှားမှား အယွင်းယွင်း အနက်ကောက်၍ ဝေဖန်ကဲ့ရဲ့ ပြစ်တင်ပြောဆိုခဲ့ကြလေသည်။

အချို့ ကျမ်းချက်များတွင် လာရှိသည်မှာ

တစ်ခါသော် တမန်တော်မြတ်က ( ليس أحد يعبد من دون الله فيه خير ) >>

إِنْ هُوَ إِلَّا عَبْدٌ أَنْعَمْنَا عَلَيْهِ وَجَعَلْنَٰهُ مَثَلًا لِّبَنِىٓ إِسْرَٰٓءِيلَ ﴿٥٩﴾

၅၉။ ထိုမရ်ယမ်၏သား (အီစာ)ကား ကျွန်တစ်ပါးမျှ ဖြစ်၏။ ငါအရှင်မြတ်သည် ၎င်း၏အပေါ်၌ ကျေးဇူး ပြုတော်မူခဲ့သည့်ပြင် ၎င်းအား အီစ္စရာအီလီအမျိုးသား တို့အဖို့ စံနမူနာတစ်ခု ပြုလုပ်တော်မူခဲ့၏။

وَلَوْ نَشَآءُ لَجَعَلْنَا مِنكُم مَّلَٰٓئِكَةً فِى ٱلْأَرْضِ يَخْلُفُونَ ﴿٦٠﴾

၆၀။ စင်စစ်သော်ကား အကယ်၍သာ ငါအရှင်မြတ် သည် အလိုရှိတော်မူခဲ့ပါလျှင် အသင်တို့မှ "မလာအိ ကဟ်" ကောင်းကင်တမန်များကို ဖန်ဆင်းတော်မူခဲ့မည် ဖြစ်ရာ ထိုကောင်းကင်တမန်တို့မှာ ကမ္ဘာမြေဝယ် (အသင်တို့၏) အရိုက်အရာကို ဆက်ခံကြမည်ဖြစ်၏။

وَإِنَّهُۥ لَعِلْمٌ لِّلسَّاعَةِ فَلَا تَمْتَرُنَّ بِهَا وَٱتَّبِعُونِ ۚ هَٰذَا صِرَٰطٌ مُّسْتَقِيمٌ ﴿٦١﴾

၆၁။ ထိုမှတစ်ပါး ဧကန်မလွဲ ထိုမရ်ယမ်၏သား (အီစာ)မှာ "ကိယာမတ်" ရှင်ပြန်ထမည့် အချိန်ကာလနှင့် စပ်လျဉ်း၍ လက္ခဏာ၊ စည်းကမ်းချက်၊ သတ်မှတ်ချက် "ကိယာမတ်" *ရှင်ပြန်ထမည့်နေ့ကို ယုံကြည်ရန် အကြောင်းတစ်ရပ်ပင်ဖြစ်၏။* [၁] သို့ဖြစ်ပေရာ အသင်တို့ သည် ယင်းကိယာမတ်နှင့်စပ်လျဉ်း၍ ယုံမှားသံသယ မဖြစ်ကြကုန်လင့်။ ၎င်းပြင် အသင်တို့သည် ငါ၏ နောက်သို့ လိုက်ခဲ့ကြလေကုန် ဤသည် ဖြောင့်မတ် သော တရားလမ်းပင် ဖြစ်ပေသည်။

►► "အလ္လာဟ်အရှင်မြတ်မှတပါး အခြားကိုးကွယ်ခြင်းခံရသူ တစ်ဦးတစ်ယောက်၌မျှ ကောင်းကျိုးချမ်းသာ တစ်စုံတစ်ရာမရှိ"ဟု မိန့်ကြားတော်မူခဲ့၏။

ထိုအခါ အရဗ်မုရှ်ရစ်က်များက "တမန်တော်အီစာ၌လည်း ကောင်းကျိုးချမ်းသာ တစ်စုံတစ်ရာ မရှိပါသလော"ဟု ပြောဆိုခဲ့ကြလေသည်။

အမှန်မှာ အထက်တွင်ဖော်ပြပါ ကုရ်အာန်ကျမ်းလာ အာယတ်(၂၁း၉၈)နှင့် တမန်တော်မြတ်၏ အထက်ပါ ဩဝါဒတော်သည် တမန်တော်အီစာနှင့် မည်သို့မျှမပတ်သက်ပေ။ လူသားတို့ လုပ်ကြံဖန်တီး၍ ကိုးကွယ်နေကြသော၊ ကျိုးပြစ်တစ်စုံတစ်ရာ မပြုစွမ်းနိုင်သော ယင်းသို့ မိမိအား ကိုးကွယ်နေကြသည်ကို မတားဆီးနိုင်သော သို့ကိုးကွယ်မှုသည် မိမိနှင့်မည်သို့မျှ မပတ်သက်ကြောင်း ဖွင့်ဟမပြောဆိုနိုင်သော အရာများ ကိုလည်း ရည်ညွှန်းထားခြင်းသာဖြစ်သည်။

(၁) ဤအာယတ်တော်တွင်ပါရှိသော (ဟု)ဟူသော နာမ်စားသည် တမန်တော်အီစာကို ရည်ညွှန်းသည်။ ဆိုလိုသည်ကား တမန်တော်အီစာသည် အလ္လာဟ်အရှင်မြတ်၏ တန်ခိုးတော်ဖြင့် ဖခင်မပါဘဲ ►►

၆၂။ ထိုမှတစ်ပါး "ရှိုင်တွာန်" မိစ္ဆာကောင်သည် အသင်တို့အား (တရားလမ်းမှ) တားဆီးပိတ်ပင်ခြင်း မပြုစေရ။ ဧကန်မလွဲ ၎င်းသည် အသင်တို့၏ ထင်ရှားစွာသော ရန်သူပင်ဖြစ်ပေ၏။

وَلَا يَصُدَّنَّكُمُ الشَّيْطٰنُ ۚ إِنَّهٗ لَكُمْ عَدُوٌّ مُّبِيْنٌ ﴿٦٢﴾

၆၃။ ၎င်းပြင် အီစာသည် ထင်ရှားစွာသောသက်သေလက္ခဏာများနှင့်တကွ လာခဲ့သောအခါ (ဤသို့) ပြောကြားခဲ့လေ၏။ ဧကန်စင်စစ် ငါသည် အသင်တို့ထံ နက်နဲသိမ်မွေ့သော ဉာဏ်ပညာကို ယူဆောင်ခဲ့သည်။ ၎င်းပြင် ငါသည် အသင်တို့ သဘောကွဲလွဲကြသော အချို့အရေးကိစ္စတို့ကို အသင်တို့အား ရှင်းလင်းဖော်ပြရန်လာခဲ့သည်။ သို့ဖြစ်ပေရာ အသင်တို့သည် အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့လေကြကုန်၊ ၎င်းပြင် ငါ၏စကားကို လိုက်နာကြလေကုန်။

وَلَمَّا جَآءَ عِيْسٰى بِالْبَيِّنٰتِ قَالَ قَدْ جِئْتُكُمْ بِالْحِكْمَةِ وَلِاُبَيِّنَ لَكُمْ بَعْضَ الَّذِيْ تَخْتَلِفُوْنَ فِيْهِ ۚ فَاتَّقُوا اللّٰهَ وَاَطِيْعُوْنِ ﴿٦٣﴾

၆၄။ ဧကန်စင်စစ် အလ္လာဟ်အရှင်မြတ်သည်ပင် ငါ့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်သည်လည်းကောင်း၊ အသင်တို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်သည်လည်းကောင်း၊ ဖြစ်တော်မူ၏။ သို့ဖြစ်ပေရာ အသင်တို့သည် ထိုအရှင်မြတ်အားသာလျှင် ဆည်းကပ် ကိုးကွယ်ကြလေကုန်။ ဤသည် ဖြောင့်မတ်သော တရားလမ်းပင် ဖြစ်ချေသည်။

اِنَّ اللّٰهَ هُوَ رَبِّيْ وَرَبُّكُمْ فَاعْبُدُوْهُ ۗ هٰذَا صِرَاطٌ مُّسْتَقِيْمٌ ﴿٦٤﴾

---

➤➤ မွေးဖွားလာခဲ့သည် ဖခင်မပါဘဲ မွေးဖွားခြင်းသည် ဖြစ်ရိုးဖြစ်စဉ်မရှိ၊ ဖြစ်လေ့ဖြစ်ထမရှိ၊ သို့တစေလည်း အလ္လာဟ်အရှင်မြတ် အလိုတော်ရှိပါက ယင်းသို့ ဖြစ်ရိုးဖြစ်စဉ်မရှိသော အရာကိုပင် ပြုစွမ်းတော်မူနိုင်ပေသည်။ အရဗ်မုရှ်ရစ်က်များသည် တောင်ဟီးဒ်နှင့်စပ်လျဉ်း၍ အငြင်းအခုံပြုလေ့ရှိသကဲ့သို့၊ ကိယာမတ်နေ့နှင့် စပ်လျဉ်း၍လည်း ငြင်းခုံလေ့ရှိကြပေသည်။ ထို့အတွက် ဤအာယတ်တော်တွင် တမန်တော်အီစာသည် အစ္စရာအီလီ အမျိုးအနွယ်ဝင်များအဖို့ နာယူ ကျင့်မူရန် စံနမူနာဖြစ်သကဲ့သို့ ကိယာမတ်နေ့၏ သက်သေသာဓက တစ်ပါးလည်း ဖြစ်ပေသည်။ ဆိုလိုသည်ကား အလ္လာဟ်အရှင်မြတ်သည် ဖြစ်ရိုးဖြစ်စဉ်နည်းမျိုးဖြင့် မဟုတ်ဘဲ တမန်တော်အီစာအား ဖန်ဆင်းတော်မူခဲ့ပေရာ ဖြစ်ရိုးဖြစ်စဉ်မရှိသော ပြန်လည်ရှင်ပြန်ထမည့် ကိယာမတ်နေ့ကိုလည်း ဖြစ်ပေါ်စေနိုင်သည်မှာ ထင်ရှားလှပေသည်။ ကြည့်-ထာနဝီ။

فَاخْتَلَفَ الْأَحْزَابُ مِنْ
بَيْنِهِمْ ۖ فَوَيْلٌ لِّلَّذِينَ ظَلَمُوا
مِنْ عَذَابِ يَوْمٍ أَلِيمٍ ٦٥

၆၅။ သို့ပါလျက် ၎င်းတို့၏အကြားမှ အုပ်စု(ဂိုဏ်းဂဏ) အသီးသီးကွဲခဲ့ကြကုန်၏။ သို့ဖြစ်ပေရာ မတရားကျူးလွန်သူများ၌ ပြင်းပြနာကျင်ဖွယ်သောနေ့၏ ပြစ်ဒဏ်ကြောင့် ပျက်စီးခြင်းသည် ရှိပေအံ့သတည်း။

هَلْ يَنظُرُونَ إِلَّا السَّاعَةَ
أَن تَأْتِيَهُم بَغْتَةً وَهُمْ
لَا يَشْعُرُونَ ٦٦

၆၆။ ၎င်းတို့သည် မိမိတို့ထံ "ကိယာမတ်" ရှင်ပြန်ထမည့် အချိန်ကာလ ၎င်းတို့အမှုမဲ့ အမှတ်မဲ့ ရှိနေခိုက် ရုတ်တရက် ရှောင်တခင် ရောက်လာရန်ကိုသာလျှင် စောင့်စား၍ နေကြကုန်၏။

الْأَخِلَّاءُ يَوْمَئِذٍ بَعْضُهُمْ
لِبَعْضٍ عَدُوٌّ إِلَّا الْمُتَّقِينَ ٦٧

၆၇။ ထိုနေ့တွင် "မွတ္တကီ" သူတော်စင်တို့မှတပါး အခြားမိတ်ဆွေရင်းချာတို့မှာ အချို့သည် အချို့၏ ရန်သူများပင် ဖြစ်ကြပေမည်။

يَا عِبَادِ لَا خَوْفٌ عَلَيْكُمُ الْيَوْمَ
وَلَا أَنتُمْ تَحْزَنُونَ ٦٨

၆၈။ (ထိုရောကာလ အလ္လာဟ်အရှင်မြတ်အထံတော်မှ သူတော်စင်တို့နှင့် ပတ်သက်၍ ဤသို့ အမိန့်တော် ထုတ်ပြန်တော်မူမည်၊) "အို-ငါအရှင်မြတ်၏ကျွန်တို့ ယနေ့သော်ကား အသင်တို့၌ မည်သည့် စိုးရိမ်မှုမျှ မရှိပြီ။ ထိုမှတစ်ပါး အသင်တို့သည် စိတ်သောက ဖြစ်ရန်လည်း မရှိပြီ။

الَّذِينَ آمَنُوا بِآيَاتِنَا
وَكَانُوا مُسْلِمِينَ ٦٩

၆၉။ (ထိုသူတို့ကား) အကြင်သူတို့ပင်၊ ၎င်းတို့သည် ငါအရှင်မြတ်၏အာယတ်တော် လက္ခဏာတော်များကို သက်ဝင်ယုံကြည်ခဲ့ကြသည်သာမက ၎င်းတို့သည် "မုစ်လင်မ်" အမိန့်တော်ကို (လက်တွေ့) လိုက်နာသူများလည်း ဖြစ်ခဲ့ကြကုန်၏။

ادْخُلُوا الْجَنَّةَ أَنتُمْ وَأَزْوَاجُكُمْ
تُحْبَرُونَ ٧٠

၇၀။ အသင်တို့သည်လည်းကောင်း၊ အသင်တို့၏ ဇနီးကြင်ရာတို့သည်လည်းကောင်း၊ "ဂျန္နတ်" သုခဘုံတွင် ဝင်ရောက်ကြလေကုန်၊ (ယင်းသုခဘုံ၌) အသင်တို့ (အားလုံးတို့)သည် ဝမ်းမြောက်စေခြင်း၊ ရှိသေခြင်းကို ခံကြရပေမည်။

يُطَافُ عَلَيْهِم بِصِحَافٍ مِّن ذَهَبٍ وَأَكْوَابٍ ۖ وَفِيهَا مَا تَشْتَهِيهِ الْأَنفُسُ وَتَلَذُّ الْأَعْيُنُ ۖ وَأَنتُمْ فِيهَا خَالِدُونَ ﴿٧١﴾

၇၁။ ထိုသူတို့၏ရှေ့ဝယ် ရွှေပန်းကန်ပြားများသည် လည်းကောင်း၊ သောက်ရေဖလားများသည်လည်း ကောင်း၊ လည်ပတ်လျက် ရှိကြပေမည်။ ထိုမှတစ်ပါး ယင်းသုခဘုံ၌ စိတ်အလိုဆန္ဒရှိသမျှတို့သည်လည်း ကောင်း၊ မျက်စိအရသာခံစားအံ့သော အကြောင်းအရာ တို့သည်လည်းကောင်း၊ ရှိကြပေမည်။ ၎င်းပြင် အသင် တို့သည် ယင်းသုခဘုံ၌ အမြဲထာဝရ နေထိုင်ကြမည် ပင် ဖြစ်ကုန်၏။

وَتِلْكَ الْجَنَّةُ الَّتِي أُورِثْتُمُوهَا بِمَا كُنتُمْ تَعْمَلُونَ ﴿٧٢﴾

၇၂။ စင်စစ်သော်ကား ဤသည်ပင် အကြင်"ဂျန္နတ်" သုခဘုံဖြစ်၏။ အသင်တို့သည် မိမိတို့ ကျင့်မူခဲ့ကြ ကုန်သော ကောင်းမှုသုစရိုက်များကြောင့် ယင်း"ဂျန္နတ်" သုခဘုံကို အမွေအဖြစ် ချီးမြှင့်ပေးသနားတော်မူခြင်း ကို ခံကြရပြီ။

لَكُمْ فِيهَا فَاكِهَةٌ كَثِيرَةٌ مِّنْهَا تَأْكُلُونَ ﴿٧٣﴾

၇၃။ အသင်တို့အဖို့ ယင်းသုခဘုံ၌ မြောက်မြားစွာ သော သစ်သီးဝလံများ ရှိကြပေသည်။ ယင်း သစ်သီး ဝလံများမှ အသင်တို့သည် စားသုံးကြလေကုန်။

إِنَّ الْمُجْرِمِينَ فِي عَذَابِ جَهَنَّمَ خَالِدُونَ ﴿٧٤﴾

၇၄။ ဧကန်အမှန် ပြစ်မှုကျူးလွန်သော သူတို့ကား "ဂျဟန္နမ်" ငရဲဘုံ၏ပြစ်ဒဏ်၌ အမြဲထာဝရ နေထိုင် (ခံစား)ကြမည့်သူများပင် ဖြစ်ကြကုန်၏။

لَا يُفَتَّرُ عَنْهُمْ وَهُمْ فِيهِ مُبْلِسُونَ ﴿٧٥﴾

၇၅။ ယင်းပြစ်ဒဏ်မှာ ၎င်းတို့မှ ပေါ့လျော့စေခြင်း ခံရမည်လည်း မဟုတ်ပေ။ စင်စစ် ၎င်းတို့သည် ယင်း ပြစ်ဒဏ်၌ပင် မျှော်လင့်ချက်ကင်းစွာဖြင့် ရှိနေကြရ ပေမည်။ [၁]

---

(၁) ဤအာယတ်တော်တွင်ပါရှိသော "မွဂျ်ရိမိန်"- ပြစ်မှုကျူးလွန်သူများဟူသည် ကာဖိရ်၊ မုရှ်ရစ်က်များကို ဆိုလိုသည်။ ကြည့်-ရှုဟ်၊ မအာလင်မ်၊ မာဂျိဒီ။ ကာဖိရ်၊ မုရှ်ရစ်က်များသည် ဂျဟန္နမ်ငရဲဘုံတွင် ရုပ်နာမ်ဆိုင်ရာ ကြီးလေးလှသော ပြစ်ဒဏ်များကို အမြဲထာဝစဉ် ခံစားနေကြရပေမည်။ ငရဲ၏ပြစ်ဒဏ်သည် မည်သည့် ➤➤

وَمَا ظَلَمْنٰهُمْ وَلٰكِنْ كَانُوْا هُمُ الظّٰلِمِيْنَ ۝٧٦

၇၆။ စင်စစ်သော်ကား ငါအရှင်မြတ်သည် ၎င်း တို့၏အား မတရား နှိပ်စက်တော်မူခဲ့သည် မဟုတ်ပေ။ သို့ရာတွင် ၎င်းတို့သည် မိမိတို့ကိုယ်တိုင်ပင် မတရားသောသူများ ဖြစ်ခဲ့ကြကုန်၏။ ^၁

وَنَادَوْا يٰمٰلِكُ لِيَقْضِ عَلَيْنَا رَبُّكَ ۗ قَالَ اِنَّكُمْ مّٰكِثُوْنَ ۝٧٧

၇၇။ ထိုမှတစ်ပါး ၎င်းတို့သည် (ဂျဟန္နမ်" ငရဲဘုံကို ကွပ်ကဲအုပ်ချုပ်သူအား) အို-"မာလစ်က်၊ အသင့်အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်သည် ကျွန်ုပ်တို့အား အဆုံးစီရင်တော်မူပါစေ" ဟု ဟစ်အော် (ပြောဆို)ကြပေမည်။ (ထိုအခါ) ထို "မာလစ်က်" သည် (ဤသို့)ပြောဆို (ဖြေကြား)ပေမည်။ စေကန်မလွဲ အသင်တို့ကား (ဤအခြေအနေ၌ပင် အမြဲထာဝစဉ်) နေမြဲ နေကြရမည့်သူများ ဖြစ်ကြကုန်၏။

---

➤➤ အချိန်တွင်မျှ ခေတ္တခဏမျှပင် ရွေ့ဆိုင်းရပ်သိမ်းထားသည် ဟူ၍လည်း အလျင်းရှိမည်မဟုတ်။ လျော့ပါးသွားမည်လည်း မဟုတ်။ ကာဖိရ်၊ မုရှ်ရစ်က်များသည် ငရဲဘုံမှ ဘယ်သောအခါမျှ ထွက်ကြရမည်လည်း မဟုတ်၊ ၎င်းတို့သည် လွတ်မြောက်ရန်အတွက် မျှော်လင့်ချက် အကင်းကြီးကင်းလျက် ရှိကြပေမည်။ မျှော်လင့်ချက်ကင်းမဲ့ရခြင်းသည် စိတ်၏ဒုက္ခဖြစ်သည်။ စိတ်၏ဒုက္ခသည် ကိုယ်ခန္ဓာ၏ ဒုက္ခထက်ဆိုးရွားသည်။ ဤသည် ငရဲလားရာတွင် ဒုက္ခပေါ်၌ ဒုက္ခထပ်ဆင့် ခံစားရခြင်းပင်။

အလ္လာဟ်အရှင်မြတ်သည် ကျွန်တော်မျိုးတို့အား ယင်းသည့်ငရဲမှ ဝေးစွာဖယ်ရှားပေးတော်မူပါစေသတည်း။ အာမီန်။

① ဆိုလိုသည်ကား အလ္လာဟ်အရှင်မြတ်သည် လူသားတို့အား ဤသည် မှန်သည်။ ဤသည် မှားသည်။ ဤသည် ကောင်းသည်။ ဤသည် မကောင်းစသည်ဖြင့် အမှန်နှင့်အမှား၊ အကောင်းနှင့်အဆိုး လမ်းစဉ်နှစ်ရပ်စလုံးကို အထင်အရှား ဟောညွှန်ပြထားတော်မူသည်။ တမန်တော်များကို စေလွှတ်၍ သတိပေးတော်မူသည်။ လူသားတို့၌ အမှန်ကိုလက်ခံ၍ အကောင်းကို ဆည်းပူးရန်သာ ရှိသည်။ အမှားကိုလက်ခံ၍ မကောင်းမှုကို ဆည်းပူးရန် အကြောင်းပင်မရှိပေ။

သို့ပါလျက် ကာဖိရ်၊ မုရှ်ရစ်က်များသည် မနာခံခဲ့ကြပေ။ သွေဖည်ခဲ့ကြပေသည်။ မိုက်မှားခဲ့ကြပေသည်။ ရပ်တန်းက မရပ်တန့်ခဲ့ကြပေ။ အချိန်မီ နောင်တမရခဲ့ကြပေ။ ဤသို့သော ကာဖိရ်၊ မုရှ်ရစ်က်များအား ထိုက်သည့်အားလျော်စွာ ပြစ်ဒဏ်ခတ်ခြင်းကို မတရားဟူ၍ အသို့လျှင် ဆိုနိုင်အံ့နည်း။ ထို့အတွက် အလ္လာဟ်အရှင်မြတ်က "ငါအရှင်မြတ်သည် ထိုသူများအား ကျူးကျော်စော်ကားတော် မူမည်မဟုတ်။ သို့ရာတွင် ထိုသူများသာလျှင် ကျူးကျော်စော်ကားသူများ ဖြစ်ကြသည်"ဟု မိန့်ကြားထားတော်မူခြင်း ဖြစ်သတည်း။

لَقَدْ جِئْنٰكُمْ بِالْحَقِّ وَلٰكِنَّ أَكْثَرَكُمْ لِلْحَقِّ كٰرِهُوْنَ ﴿٧٨﴾

၇၈။ ဧကန်မလွဲ ငါအရှင်မြတ်သည် (နဗီတမန်တော်မှတစ်ဆင့်) မှန်ကန်သော "ဒီန်" သာသနာတော်ကို အသင်တို့ထံ ပို့ဆောင်တော်မူခဲ့သော်လည်း အသင်တို့အနက် အများစုမှာ မှန်ကန်သော "ဒီန်" သာသနာတော်ကို စက်ဆုပ်သူများပင် ဖြစ်ခဲ့ကြကုန်၏။

أَمْ أَبْرَمُوْٓا أَمْرًا فَإِنَّا مُبْرِمُوْنَ ﴿٧٩﴾

၇၉။ ၎င်းတို့သည် အရေးကိစ္စ တစ်စုံတစ်ရာကို စီမံပြဋ္ဌာန်းပြီး ဖြစ်ခဲ့ကြလေသလော၊ သို့ဖြစ်လျှင် မလွဲဧကန် ငါအရှင်မြတ်သည်လည်း စီမံပြဋ္ဌာန်းတော်မူမည်ဖြစ်၏။

أَمْ يَحْسَبُوْنَ أَنَّا لَا نَسْمَعُ سِرَّهُمْ وَنَجْوٰىهُمْ ۚ بَلٰى وَرُسُلُنَا لَدَيْهِمْ يَكْتُبُوْنَ ﴿٨٠﴾

၈၀။ သို့တည်းမဟုတ် ငါအရှင်မြတ်သည် ထိုသူတို့၏ လျှို့ဝှက်ချက်များကိုလည်းကောင်း၊ ထိုသူတို့၏ တီးတိုး ဆွေးနွေးချက်များကိုလည်းကောင်း၊ ကြားတော်မူသည်မဟုတ်ဟု ၎င်းတို့ ထင်မှတ်ကြလေသလော။ အမှန်ပင် (ငါအရှင်မြတ်သည် ကြားတော်မူ၏၊) ထို့မှတစ်ပါး ငါအရှင်မြတ်၏ စေတမန်များသည်လည်း (ထိုသည်တို့ကို) ၎င်းတို့ထံ၌ ရေးမှတ်လျက်ရှိကြကုန်သတည်း။

قُلْ إِنْ كَانَ لِلرَّحْمٰنِ وَلَدٌ ۖ فَأَنَا أَوَّلُ الْعٰبِدِيْنَ ﴿٨١﴾

၈၁။ (အို-နဗီတမန်တော်) အသင်ပြောကြားပါလေ။ (အချင်းတို့၊) အကယ်၍ အလ္လာဟ်အရှင်မြတ်၌ သားတစ်ဦးတစ်ယောက် ရှိပါအံ့။ ငါသည် ရှေးဦးပထမ (ထိုသားကို) ဆည်းကပ် ကိုးကွယ်သူဖြစ်အံ့။

سُبْحٰنَ رَبِّ السَّمٰوٰتِ وَالْأَرْضِ رَبِّ الْعَرْشِ عَمَّا يَصِفُوْنَ ﴿٨٢﴾

၈၂။ မိုးကောင်းကင်များကိုလည်းကောင်း၊ ကမ္ဘာမြေကိုလည်းကောင်း၊ ဖန်ဆင်းတော်မူသော အရှင်၊ "အရ်ရှ်" ပလ္လင်တော်ကိုလည်း ဖန်ဆင်းတော်မူသော အရှင် ဖြစ်တော်မူသည်။ (မုရှ်ရစ်က်)တို့ ကြံဖန်(စွပ်စွဲ) ပြောဆိုကြသော စွပ်စွဲချက်တို့မှ (လုံးဝ)ကင်းရှင်း စင်ကြယ်တော်မူသည်။

فَذَرْهُمْ يَخُوضُوا وَيَلْعَبُوا حَتّٰى يُلٰقُوا يَوْمَهُمُ الَّذِي يُوعَدُونَ ﴿٨٣﴾

၈၃။ သို့ဖြစ်ပေရာ (အို–နဗီတမန်တော်) ထိုသူတို့သည် မိမိတို့ ချိန်းဆိုခြင်း ခံကြရလေသောနေ့နှင့် တွေ့ဆုံရင်ဆိုင်ကြရသည့်တိုင်အောင် ထိုသူတို့အား အချည်းနှီး အကျိုးမဲ့ဖြစ်သောစကားများ ပြောဆိုလျက်ရှိကြရန် ကစားခုန်စား ပျော်မြူးလျက်ရှိကြရန် စွန့်ထားပါလေ။

وَهُوَ الَّذِي فِي السَّمَآءِ إِلٰهٌ وَّفِي الْأَرْضِ إِلٰهٌ ۚ وَهُوَ الْحَكِيمُ الْعَلِيمُ ﴿٨٤﴾

၈၄။ အမှန်သော်ကား ထိုအရှင်မြတ်သည်ပင် မိုးကောင်းကင်၌လည်း ဆည်းကပ်ကိုးကွယ်ရာအရှင် ဖြစ်တော်မူသည်။ ကမ္ဘာမြေ၌လည်း ဆည်းကပ်ကိုးကွယ်ရာအရှင် ဖြစ်တော်မူသည်။

ထိုမှတစ်ပါး ထိုအရှင်မြတ်သည်ပင် နက်နဲသိမ်မွေ့သော ဆင်ခြင်တုံတရားနှင့် ပြည့်စုံတော်မူသောအရှင်၊ (အလုံးစုံတို့ကို) အကြွင်းမဲ့ သိတော်မူသောအရှင် ဖြစ်တော်မူသည်။

وَتَبٰرَكَ الَّذِي لَهُ مُلْكُ السَّمٰوٰتِ وَالْأَرْضِ وَمَا بَيْنَهُمَا ۚ وَعِنْدَهُ عِلْمُ السَّاعَةِ ۚ وَإِلَيْهِ تُرْجَعُونَ ﴿٨٥﴾

၈၅။ ထိုမှတစ်ပါး အကြင်အရှင်မြတ်သည် ကောင်းခြင်းမင်္ဂလာအပေါင်းနှင့် ပြည့်စုံတော်မူသည်။ မိုးကောင်းကင်များ၌လည်းကောင်း၊ ပထဝီမြေ၌လည်းကောင်း၊ ယင်းမိုးကောင်းကင်များနှင့် ပထဝီမြေနှစ်ခု၏အကြား၌ ရှိသမျှတို့ကိုလည်းကောင်း၊ စိုးမိုးအုပ်ချုပ်မှုသည် ထိုအရှင်မြတ်၌သာ ရှိသည်။

ထိုမှတစ်ပါး "ကိယာမတ်" ရှင်ပြန်ထမည့် အချိန်ကာလကိုလည်း ထိုအရှင်မြတ်ပင် သိမြင်တော်မူ၏။ ၎င်းပြင် အသင်တို့သည် ထိုအရှင်မြတ် အထံတော်သို့ပင် ပြန်သွားကြရမည်။

وَلَا يَمْلِكُ الَّذِينَ يَدْعُونَ مِنْ دُونِهِ الشَّفَاعَةَ

၈၆။ စင်စစ်မှာကား ထိုအရှင်မြတ်အားစွန့်၍ ၎င်းတို့ ဟစ်ခေါ်တသကြကုန်သောသူတို့၌ ကြားဝင်အသနား

إِلَّا مَنْ شَهِدَ بِالْحَقِّ وَهُمْ يَعْلَمُونَ ﴿٨٦﴾

ခံပေးနိုင်ခွင့် အလျှင်းမရှိချေ။ သို့ရာတွင် တရားကို သိရှိကြ၍ ဝန်ခံကြကုန်သောသူတို့မှာမူကား (ကြားဝင်အသနားခံ ပေးနိုင်ကြပေမည်)။ [၁]

وَلَئِنْ سَأَلْتَهُمْ مَنْ خَلَقَهُمْ لَيَقُولُنَّ اللَّهُ فَأَنَّىٰ يُؤْفَكُونَ ﴿٨٧﴾

၈၇။ စင်စစ်သော်ကား (အို–နဗီတမန်တော်) အကယ်၍သာ အသင်သည် ၎င်းတို့အား အသင်တို့ကို မည်သူဖန်ဆင်းခဲ့သနည်းဟု စုံစမ်းမေးမြန်းခဲ့ပါလျှင် ၎င်းတို့က အလ္လာဟ်အရှင်မြတ်ပင် (ဖန်ဆင်းတော်မူခဲ့သည်)ဟု ဧကန်မလွဲ ပြောဆို(ဖြေကြား)ကြပေမည်။ သို့ပါလျက် ၎င်းတို့သည် အဘယ်သို့ ပြန်လှည့်သွားနေကြသနည်း။

وَقِيلِهِ يَٰرَبِّ إِنَّ هَٰٓؤُلَآءِ قَوْمٌ لَّا يُؤْمِنُونَ ﴿٨٨﴾

၈၈။ ၎င်းပြင် အို–ကျွန်တော်မျိုးအားဖန်ဆင်းမွေးမြူတော်မူသောအရှင်၊ ဤအမျိုးသားတို့မှာ "အီမာန်" သက်ဝင်ယုံကြည်ခြင်း မရှိကြသော အမျိုးသားတို့ပင်ဖြစ်ကြပါသည်ဟူသော ရစူလ်တမန်တော် လျှောက်ထားချက်ကိုလည်း (ထိုအရှင်မြတ်သည် သိရှိတော်မူသည်)။

فَاصْفَحْ عَنْهُمْ وَقُلْ سَلَٰمٌ فَسَوْفَ يَعْلَمُونَ ﴿٨٩﴾

၈၉။ သို့ဖြစ်ပေရာ (အို–နဗီတမန်တော်) အသင်သည် ၎င်းတို့ဘက်မှ လျစ်လျူရှု၍နေပါလေ။ ထိုမှတစ်ပါး အသင်သည် ၎င်းတို့အား "စလာမ်" ဆိုပါလေ။ ထို့နောက် မကြာမြင့်မီပင် ၎င်းတို့သည် သိရှိကြကုန်အံ့သတည်း။

---

(၁) ကိယာမတ်နေ့တွင် အလ္လာဟ်အရှင်မြတ်ထံတော်၌ 'ရှဖာအတ်' အသူပြုနိုင်အံ့နည်း။ အစ္စလာမ်၏ အမှန်တရားကို အမှန်အတိုင်း သိနားလည်သော၊ သိနားလည်သည့်အတိုင်း နှစ်နှစ်ကာကာ စွဲယူယုံကြည်သော သူတော်စင်များ သည်ပင် အလ္လာဟ်အရှင်မြတ်၏ ခွင့်ပြုချက်ရမှသာလျှင် ရှဖာအတ်ပြုနိုင်ကြပေမည်။ ကာဖိရ်၊ မုရှ်ရစ်က်တို့၏ ကိုးကွယ်ရာများကား သူတပါးတို့အား ကယ်တင်နိုင်ရန်ဝေးစွ၊ မိမိတို့ကိုယ်တိုင်ပင် မိမိတို့ ကယ်နိုင်ကြမည် မဟုတ်ပေ။

# အခိုးအငွေ့ကဏ္ဍ



ဤကဏ္ဍသည် 'ဒုခါန်' အခိုးအငွေ့အကြောင်းပါဝင်သော ကဏ္ဍ ဖြစ်သည်။ မက္ကာမြို့တော်၌ ကျရောက်ခဲ့၏။ ဤကဏ္ဍတွင် အာယတ်တော်(၅၉)ပါး၊ ရကူအ်အပိုဒ်(၃)ပိုဒ် အသီးသီးပါရှိ၏။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ ○

အနန္တကရုဏာတော်ရှင် ဖြစ်တော်မူသော၊ အစဉ်သနားကြင်နာ ညှာတာတော်မူသော အလ္လာဟ်အရှင်မြတ်၏ နာမံတော်ဖြင့် အစပြုပါ၏။

حٰمٓ ﴿١﴾

၁။ ဟာ၊ မီမ်။

وَالْكِتٰبِ الْمُبِيْنِ ﴿٢﴾

၂။ (ငါအရှင်မြတ်သည်) ရှင်းလင်းထင်ရှားသော (ဤ)ကျမ်းဂန်ကို သက်သေထူတော်မူ၏။

اِنَّآ اَنْزَلْنٰهُ فِيْ لَيْلَةٍ مُّبٰرَكَةٍ اِنَّا كُنَّا مُنْذِرِيْنَ ﴿٣﴾

၃။ မုချကေန် ငါအရှင်မြတ်သည် ယင်းကျမ်းဂန်ကို *ကောင်းချီးမင်္ဂလာနှင့် ပြည့်စုံသော ညဥ့်တစ်ညဥ့်တွင် ချပေးသနားတော်မူခဲ့၏။* [၁] ကေန်စင်စစ် ငါအရှင်မြတ်သည် သတိပေးတော်မူမည့်အရှင် ဖြစ်တော်မူ၏။

فِيْهَا يُفْرَقُ كُلُّ اَمْرٍ حَكِيْمٍ ﴿٤﴾

၄။ ယင်းညဥ့်တွင် နက်နဲသိမ်မွေ့သောအရေးကိစ္စများဟူသမျှတို့သည် အသေးစိတ် သတ်မှတ် အတည်ပြုခြင်း ခံကြရလေ၏။

---

(၁) <u>မင်္ဂလာရှိသော ညဥ့်၊</u>

အလ္လာဟ်အရှင်မြတ်သည် ကုရ်အာန်ကျမ်းမြတ်ကို မင်္ဂလာရှိသောညဥ့်တွင် စတင်ထုတ်ပြန် ချမှတ်တော်မူခဲ့သည်။ မင်္ဂလာရှိသောညဥ့်ဟူသည် 'ကဒ်ရ်' ညဥ့်ကိုဆိုလိုသည်။ 'ကဒ်ရ်' ညဥ့်တွင် ကုရ်အာန်ကျမ်းမြတ်ကို စတင်ထုတ်ပြန် ချမှတ်တော်မူသည့်အကြောင်း ကုရ်အာန်ကျမ်းမြတ်တွင် အတိအလင်း မိန့်ဆိုထားတော်မူသည်။ ကြည့်-ကုရ်အာန် (၉၇း၁-၅)။

'ကဒ်ရ်' ညဥ့်သည် 'ရမသွာန်' လမြတ်တွင်ရှိသည်။ အဘယ်ကြောင့်ဆိုသော် ကုရ်အာန်ကျမ်းမြတ်သည် ရမသွာန် လမြတ်တွင် စတင်ကျရောက်လာခဲ့လေသည်။ ကြည့်-ကုရ်အာန် (၂း၁၈၅)။

တမန်တော်မြတ်ထံသို့ ဦးစွာပထမ ကျရောက်လာခဲ့သော ကုရ်အာန်ကျမ်းလာ အာယတ်တော်များမှာ ကုရ်အာန်ကျမ်းမြတ်ကဏ္ဍစဉ် (၉၆)၏ အစပထမ အာယတ်တော်ငါးပါးပင် ဖြစ်ပေသည်။ ဤအကြောင်း ကုရ်အာန် (၉၆း၁-၅)၏အဖွင့်တွင် အကျယ်ရေးသားပေမည်။



أَمْرًا مِّنْ عِنْدِنَا ۚ إِنَّا كُنَّا مُرْسِلِينَ ۝٥

၅။ ငါအရှင်မြတ်အထံတော်၌ ပြဋ္ဌာန်းတော်မူခြင်းအားဖြင့် ဧကန်မလွဲ ငါအရှင်မြတ်သည် (အသင့်အား ရစူလ်တမန်တော်အဖြစ်) စေလွှတ်တော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူ၏။

رَحْمَةً مِّن رَّبِّكَ ۚ إِنَّهُ هُوَ السَّمِيعُ الْعَلِيمُ ۝٦

၆။ အသင့်အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်အထံတော်မှ ကရုဏာတော်အားဖြင့် စင်စစ်ဧကန် ထိုအရှင်မြတ်သည်ပင် အလွန်တရာ ကြားတော်မူသော အရှင်၊ အလွန်တရာ သိတော်မူသောအရှင်၊ ဖြစ်တော်မူ၏။

رَبِّ السَّمَاوَاتِ وَالْأَرْضِ وَمَا بَيْنَهُمَا ۖ إِن كُنتُم مُّوقِنِينَ ۝٧

၇။ မိုးကောင်းကင်များကိုလည်းကောင်း၊ ပထဝီမြေကိုလည်းကောင်း၊ ယင်းမိုးကောင်းကင်များနှင့် ပထဝီမြေ၏အကြား၌ ရှိသမျှတို့ကိုလည်းကောင်း၊ ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်ပင်။ အကယ်၍ အသင်တို့သည် ယုံကြည်သောသူများ ဖြစ်ကြသော်။

لَا إِلَٰهَ إِلَّا هُوَ يُحْيِي وَيُمِيتُ ۖ رَبُّكُمْ وَرَبُّ آبَائِكُمُ الْأَوَّلِينَ ۝٨

၈။ ထိုအရှင်မြတ်မှတစ်ပါး ခယရှိကျိုးဆည်းကပ်ကိုးကွယ်ရာအရှင်ဟူ၍ အလျှင်းမရှိပြီ။ ထိုအရှင်မြတ်သည် ရှင်စေတော်မူ၏။ ထိုအရှင်မြတ်သည်ပင် သေဆုံးစေတော်မူ၏။ ထိုအရှင်မြတ်သည် အသင်တို့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်၊ ရှေးသူဟောင်းများဖြစ်ကြသော အသင်တို့၏ အဘ ဘိုး ဘေးတို့အားလည်းကောင်း၊ ဖန်ဆင်းမွေးမြူတော်မူသော အရှင်ပင် ဖြစ်တော်မူပေသတည်း။

➤➤ ဆိုလိုသည်ကား အလ္လာဟ်အရှင်မြတ်သည် ကုရ်အာန်ကျမ်းလာ အာယတ်တော်များကို ရမသ္ဇန်လမြတ်၊ ကဒ်ရ် ညဉ့်တွင် "လောင်ဟ်မဟ်ဖူဇ်" မှတ်တမ်းတော်မှ တမန်တော်မြတ်ထံသို့ စတင်ထုတ်ပြန် ချမှတ်ပေးတော်မူခဲ့သည်။ ထို့နောက် ကုရ်အာန်ကျမ်းလာ အာယတ်တော်များကို အခြေအနေအရ အခါကာလ အားလျော်စွာ တမန်တော်မြတ်ထံသို့ တဖြည်းဖြည်းချင်း ချပေးတော်မူခဲ့ရာ (၂၃) နှစ်ရှိသောအခါ ကုရ်အာန်ကျမ်းလာ အာယတ်တော်များသည် ပြီးပြည့်စုံသွားခဲ့လေသည်။

بَلْ هُمْ فِي شَكٍّ يَلْعَبُونَ ﴿٩﴾

၉။ စင်စစ်မှာကား ၎င်းတို့သည် ဒွိဟသံသယ၌ ကစားခုန်စားလျက်ပင် ရှိကြကုန်၏။ ၁

فَارْتَقِبْ يَوْمَ تَأْتِي السَّمَاءُ بِدُخَانٍ مُّبِينٍ ﴿١٠﴾

၁၀။ သို့ဖြစ်ပေရာ (အို-နဗီတမန်တော်) အသင်သည် မိုးကောင်းကင်မှ ထင်ရှားစွာသော အခိုးအငွေ့ ဖြစ်ပေါ်လာမည့် နေ့ကိုသာလျှင် စောင့်စား၍နေပါလေ။

يَغْشَى النَّاسَ هَٰذَا عَذَابٌ أَلِيمٌ ﴿١١﴾

၁၁။ ယင်းအခိုးအငွေ့သည် (ဤ)သူအားလုံးတို့ကို ဖုံးလွှမ်း၍သွားပေမည်။ ဤသည် အလွန်တရာ နာကျင်ဖွယ်ကောင်းသော ပြစ်ဒဏ်ပင်ဖြစ်မည်။

رَّبَّنَا اكْشِفْ عَنَّا الْعَذَابَ إِنَّا مُؤْمِنُونَ ﴿١٢﴾

၁၂။ (ထိုရောကာလ ၎င်းတို့သည် ဤသို့ လျှောက်ထားပေမည်)။ အို-ကျွန်တော်မျိုးတို့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်၊ အရှင်မြတ်သည် ပြစ်ဒဏ်ကို ကျွန်တော်မျိုးမှ ဖယ်ရှား၍ ပေးသနားတော်မူပါ။ ကေန်မလွဲ ကျွန်တော်မျိုးတို့သည် သက်ဝင်ယုံကြည်ကြပါတော့မည်။ ၂

---

(၁) တစ်ဆူတည်းဖြစ်တော်မူသော အလ္လာဟ်အရှင်မြတ်အားသာလျှင် ဆည်းကပ်ကိုးကွယ်ရမည့် အကြောင်းနှင့်စပ်လျဉ်း၍ ဤရွေ့ဤမျှ များပြားထင်ရှားသော သက်သေလက္ခဏာ၊ အထောက်အထားများ ရှိနေပါလျက်နှင့်လည်း ကာဖိရ်၊ မုရှ်ရစ်က်တို့သည် တစ်ဆူတည်းသော အလ္လာဟ်အရှင်မြတ်အား ဆည်းကပ်ကိုးကွယ်မှုနှင့် စပ်လျဉ်း၍ ဒွိဟသံသယ၌ပင် ရှိနေကြပေသည်။ လောကီရေးရာများတွင်ပင် နစ်မွန်းနေကြပေသည်။ နောင်တမလွန်အရေးကို အနည်းငယ်စိုးစဉ်းမျှပင် ဦးနှောက်တွင် ထည့်သွင်းမစဉ်းစားကြပေ။ ထို့အတွက်ကြောင့်ပင် အဆုံးအမသြဝါဒများကို ပြက်ချော်သမှု ပြုနေကြပေသည်။

(၂) အထက်တွင် ရေးသားဖော်ပြခဲ့သော ကုရ်အာန်ကျမ်းလာ အာယတ်တော် (၄၄း၁၀-၁၁)၏ အနက်ကို ဖွင့်ဆိုရာတွင် နှစ်မျိုးနှစ်စား ဖွင့်ဆိုသကဲ့သို့ ဤအာယတ်တော်များကိုလည်း နှစ်မျိုးနှစ်စားပင် ဖွင့်ဆိုရပေမည်။

၁။ ဆိုလိုသည်ကား ကိယာမတ်နီးသည့်အခါ အခိုးအငွေ့တစ်ခု ထွက်ပေါ်လာပေမည်။ လူသားတို့သည် ထိုသည့်အခိုးအငွေ့၏ဒဏ်ကို ခံစားကြရသောအခါ အို-အရှင်၊ ကျွန်တော်မျိုးတို့အား ဤပြစ်ဒဏ်မှ ဖယ်ရှားပေးတော်မူပါ၊ ကျွန်တော်မျိုးတို့ ယုံကြည်ကြပါပြီဟု လျှောက်ထားအသနားခံကြပေမည်။ ထိုအခါ အလ္လာဟ်အရှင်မြတ်ဘက်တော်မှ ယခုမှ သတိသံဝေဂနောင်တရဖို့ အဘယ်မှာအချိန်ရှိတော့သနည်း။

တမန်တော်မြတ်သည် အသင်တို့ထံသို့ ထင်ရှားသော သက်သေလက္ခဏာတော်များနှင့် ထင်ရှားသော တရားဒေသနာတော်များကို ယူဆောင်လာခဲ့ချေပြီ။ ထိုအချိန်က အသင်တို့သည် မနာခံခဲ့ကြပေ။ မနာခံခဲ့ကြသည် သာမက အသင်တို့က တမန်တော်မြတ်သည် သူတပါးထံမှသင်ကြား၍ ဤကျမ်းကို မိမိကိုယ်တိုင် ➤➤

أَنَّىٰ لَهُمُ الذِّكْرَىٰ وَقَدْ جَاءَهُمْ رَسُولٌ مُّبِينٌ ﴿١٣﴾

၁၃။ ၎င်းတို့အဖို့ သတိရခြင်းသည် အဘယ်မှာလျှင် ရှိတော့သနည်း။ အမှန်စင်စစ်သော်ကား ၎င်းတို့ထံ ရစူလ်တမန်တော်သည် ထင်ရှားစွာသော (သက်သေလက္ခဏာများနှင့်တကွ) ဧကန်အမှန် ရောက်ရှိ၍ လာခဲ့ချေပြီ။

ثُمَّ تَوَلَّوْا عَنْهُ وَقَالُوا مُعَلَّمٌ مَّجْنُونٌ ﴿١٤﴾

၁၄။ ထို့နောက်သော်မှပင် ၎င်းတို့သည် ထိုရစူလ်တမန်တော်ဘက်မှ မျက်နှာလွှဲခဲ့ကြကုန်၏။ ထိုမှတစ်ပါး ၎င်းတို့က (ရစူလ်တမန်တော်အား သူတစ်ပါး) သင်ကြား ပို့ချ၍ပေးခြင်းကို ခံရသောသူ(ဟူ၍လည်းကောင်း၊) ရူးသွပ်နေသောသူ(ဟူ၍လည်းကောင်း၊) စွပ်စွဲပြောဆိုခဲ့ကြကုန်၏။

إِنَّا كَاشِفُو الْعَذَابِ قَلِيلًا ۚ إِنَّكُمْ عَائِدُونَ ﴿١٥﴾

၁၅။ ဧကန်အမှန် ငါအရှင်မြတ်သည် အနည်းငယ်မျှ ကာလတိုင်အောင် ပြစ်ဒဏ်ကို ဖယ်ရှား၍ ပေးတော်မူမည်ဖြစ်သည်။ သို့တစေလည်း ဧကန်မလွဲ အသင်တို့သည် (မူလအခြေအနေသို့) ပြန်ပြောင်း၍လာကြအံ့သောသူတို့ပင် ဖြစ်ကြကုန်၏။

---

➤➤ လုပ်ကြံထားသည်။ တမန်တော်မြတ်သည် ရူးသွပ်နေသည်ဟူ၍ပင် စွပ်စွဲပြောဆိုခဲ့ကြသည်။ ထိုအချိန်က သတိသံဝေဂမရခဲ့ကြဘဲ ယခုသော်မှ သတိသံဝေဂ နောင်တရခြင်းမှာ အသို့လျှင်ဖြစ်နိုင်အံ့နည်းဟူ၍ ဖြေကြားတော်မူပေမည်။ (ဤကား အီဗ်နအဗ္ဗားစ်၏ ဖွင့်ဆိုချက်တစ်ရပ်ပင်)။

၂။ အထက်တွင် ရေးသားဖော်ပြခဲ့သည့်အတိုင်း မက္ကာမြို့သားများသည် ဒုဗ္ဘိက္ခန္တရကပ်ဆိုက်၍ အငတ်ပြဿနာနှင့် ရင်ဆိုင်ကြရသောအခါ ဤအာယတ်တော်များတွင် လာရှိသည့်အတိုင်း အလ္လာဟ်အရှင်မြတ်ထံတော်၌ လျှောက်ထားပန်ကြားခဲ့ကြလေသည်။

အချို့ (ရိဝါယတ်) ကျမ်းချက်များတွင် လာရှိသည်မှာ မက္ကာမြို့သား ကာဖိရ်၊ မုရှ်ရစ်က်တို့၏ ခေါင်းဆောင်ဖြစ်သော အဗူစုဖ်ယာန်နှင့် အခြားအကြီးအကဲများသည် တမန်တော်မြတ်ထံ လာရောက်ပြီး "တမန်တော်မြတ်သည် မိမိမှာ ကရုဏာရှင်ဖြစ်သည်ဟု ဆိုပါသည်။ ယခုမူ တမန်တော်၏ အမျိုးသားများသည် ဒုဗ္ဘိက္ခန္တရကပ်ဆိုက်၍ ပျက်စီးနေကြပါသည်။ တမန်တော်မြတ်သည် ကရုဏာရှင်ဖြစ်ပါသည်။ ကျွန်တော်များသည် တမန်တော်မြတ်၏ သားချင်းများဖြစ်ကြပါသည်။

يَوْمَ نَبْطِشُ الْبَطْشَةَ الْكُبْرٰى ۚ إِنَّا مُنْتَقِمُوْنَ ﴿١٦﴾

၁၆။ အကြင်နေ့တွင် ငါအရှင်မြတ်သည် အကြီးအကျယ် ဖမ်းဆီးအရေးယူတော်မူအံ့၊ မလွဲဧကန် (ထိုနေ့တွင်) ငါအရှင်မြတ်သည် လက်စားချေတော်မူမည် ဖြစ်ပေသတည်း။

وَلَقَدْ فَتَنَّا قَبْلَهُمْ قَوْمَ فِرْعَوْنَ وَجَآءَهُمْ رَسُوْلٌ كَرِيْمٌ ﴿١٧﴾

၁၇။ ၎င်းပြင် အမှန်စင်စစ် ငါအရှင်မြတ်သည် ၎င်းတို့အလျင် ဖစ်ရ်အောင်န်၏ အမျိုးသားတို့အား စမ်းသပ်တော်မူခဲ့၏။ ထို့ပြင် ၎င်းတို့ထံ မြင့်မြတ်သော ရစူလ်တမန်တော်တစ်ပါးသည် ရောက်ရှိ၍လာခဲ့၏။

أَنْ أَدُّوْٓا إِلَيَّ عِبَادَ اللّٰهِ ۖ إِنِّيْ لَكُمْ رَسُوْلٌ أَمِيْنٌ ﴿١٨﴾

၁၈။ အသင်တို့သည် အလ္လာဟ်အရှင်မြတ်၏ ကျွန်တို့ကို ငါ့အား အပ်ကြလေကုန်၊ စင်စစ်ဧကန် ငါသည် အသင်တို့အဖို့ ယုံကြည်စိတ်ချအပ်သော ရစူလ်တမန်တော်တစ်ပါးပင် ဖြစ်သည်(ဟူ၍လည်းကောင်း)၊

وَّأَنْ لَّا تَعْلُوْا عَلَى اللّٰهِ ۚ إِنِّيْٓ اٰتِيْكُمْ بِسُلْطٰنٍ مُّبِيْنٍ ﴿١٩﴾

၁၉။ အသင်တို့သည် အလ္လာဟ်အရှင်မြတ်နှင့် ဆန့်ကျင်၍ ဆိုးသွမ်းသောင်းကျန်းမှုကို မပြုကြကုန်လင့်၊ ဧကန်မလွဲ ငါသည် အသင်တို့ထံ ရှင်းလင်းထင်ရှားစွာသော သက်သေအထောက်အထားကို ယူဆောင်ခဲ့သည် (ဟူ၍လည်းကောင်း)၊

وَإِنِّيْ عُذْتُ بِرَبِّيْ وَرَبِّكُمْ أَنْ تَرْجُمُوْنِ ﴿٢٠﴾

၂၀။ (ထိုအခါ ၎င်းတို့သည် ကျောက်ခဲများဖြင့် ပစ်ပေါက်၍သတ်ကြရန် ခြိမ်းခြောက်ရာ ထိုရစူလ်တမန်တော်က ဤသို့ပြောကြားခဲ့၏) ၎င်းပြင် ဧကန်အမှန် ငါသည် အသင်တို့ ငါ့အား ကျောက်ခဲများဖြင့် ပစ်ပေါက်၍ သတ်ကြမည်ကိုစိုး၍ ငါ့အား လည်းကောင်း၊ အသင်တို့အားလည်းကောင်း၊ ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်အထံတော်၌ အကွယ်အကာ ယူထားပြီး ဖြစ်သည်။

وَإِنْ لَّمْ تُؤْمِنُوا لِي فَاعْتَزِلُونِ ﴿٢١﴾

၂၁။ ထို့ပြင် အကယ်၍ အသင်တို့သည် ငါ့အား မယုံကြည်ကြလျှင် ငါနှင့်ခွဲခွာ ရှောင်ရှား၍ နေကြလေကုန် (ဟူ၍လည်းကောင်း)၊

فَدَعَا رَبَّهُ أَنَّ هَٰؤُلَاءِ قَوْمٌ مُّجْرِمُونَ ﴿٢٢﴾

၂၂။ ထို့နောက် ထိုရစူလ်တမန်တော်(မူစာ)သည် မိမိအား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်အထံတော်တွင် အမှန်ဧကန် ဤသူတို့သည် ပြစ်မှုကျူးလွန်ကြကုန်သော အမျိုးသားများ ဖြစ်ကြပါသည်ဟူ၍ လျှောက်ထား ပန်ကြားခဲ့လေသည်။

فَأَسْرِ بِعِبَادِي لَيْلًا إِنَّكُم مُّتَّبَعُونَ ﴿٢٣﴾

၂၃။ (ထိုအခါ အရှင်မြတ်သည် ဤသို့ မိန့်ကြားတော်မူခဲ့၏။ အို-မူစာ) အသင်သည် ငါအရှင်မြတ်၏ကျွန်တို့အား ညဉ့်အချိန်အခါဝယ် ခေါ်ဆောင်သွားပါလေ။ မလွဲဧကန် အသင်တို့သည် မိမိတို့နောက်မှ (ဖစ်ရ်အောင်န်နှင့် ၎င်း၏စစ်တပ်၏) လိုက်လံခြင်း ခံကြရပေမည်။

وَاتْرُكِ الْبَحْرَ رَهْوًا ۖ إِنَّهُمْ جُندٌ مُّغْرَقُونَ ﴿٢٤﴾

၂၄။ ၎င်းပြင် အသင်သည် ပင်လယ်ကို ရှိရင်းအတိုင်း ငြိမ်သက်စွာ ထားရစ်ခဲ့ပါလေ၊ မုချဧကန် ၎င်းတို့သည် နစ်မြုပ်ခြင်းခံကြရအံ့သော စစ်တပ်ပင် ဖြစ်ကြကုန်၏။

كَمْ تَرَكُوا مِن جَنَّاتٍ وَعُيُونٍ ﴿٢٥﴾

၂၅။ ထို(ဖစ်ရ်အောင်န်နှင့် ၎င်း၏အမျိုးသား)တို့သည် မြောက်မြားစွာသောဥယျာဉ်များကိုလည်းကောင်း၊ စမ်းချောင်းများကိုလည်းကောင်း၊

وَزُرُوعٍ وَمَقَامٍ كَرِيمٍ ﴿٢٦﴾

၂၆။ လယ်ယာများကိုလည်းကောင်း၊ ကောင်းမွန်သော နေအိမ်များကိုလည်းကောင်း၊

وَنَعْمَةٍ كَانُوا فِيهَا فَاكِهِينَ ﴿٢٧﴾

၂၇။ မိမိတို့ မွေ့လျော်စံပျော်လျက် ရှိခဲ့ကြသော စည်းစိမ်ချမ်းသာတို့ကိုလည်းကောင်း၊ စွန့်ထားခဲ့ကြကုန်၏။

كَذٰلِكَ ۖ وَأَوْرَثْنٰهَا قَوْمًا اٰخَرِيْنَ ﴿٢٨﴾

၂၈။ (ဤအဖြစ်အပျက်သည်) ဤအတိုင်းပင်ဖြစ်၏။ သို့ရာတွင် ငါအရှင်သည် ယင်းစည်းစိမ်ချမ်းသာများကို အခြားသောအမျိုးသားတို့အား အမွေဆက်ခံစေတော်မူခဲ့၏။

فَمَا بَكَتْ عَلَيْهِمُ السَّمَآءُ وَالْاَرْضُ وَمَا كَانُوْا مُنْظَرِيْنَ ﴿٢٩﴾

၂၉။ သို့တစေလည်း (ယင်းဖစ်ရ်အောင်န်၏အမျိုးသား)တို့နှင့် ပတ်သက်၍ မိုးကောင်းကင်သည်လည်း ငိုကြွေး (ဝမ်းနည်းကြေကွဲ)သည် မရှိခဲ့ပေ။ ပထဝီမြေသည်လည်း ငိုကြွေး(ဝမ်းနည်း)သည် မရှိခဲ့ချေ၊ ထိုမှတစ်ပါး ၎င်းတို့မှာ ရွှေ့ဆိုင်းခွင့်လည်း မရခဲ့ကြပေ။

وَلَقَدْ نَجَّيْنَا بَنِيْٓ اِسْرَآءِيْلَ مِنَ الْعَذَابِ الْمُهِيْنِ ﴿٣٠﴾

၃၀။ ထိုမှတစ်ပါး မလွဲဧကန် ငါအရှင်မြတ်သည် အစ္စရာအီလီအမျိုးသားတို့အား ကျိုးယုတ်ရှက်ရခြင်းဖြစ်စေသော ပြစ်ဒဏ်မှ လွတ်မြောက်စေခဲ့တော်မူ၏။

مِنْ فِرْعَوْنَ ۭ اِنَّهٗ كَانَ عَالِيًا مِّنَ الْمُسْرِفِيْنَ ﴿٣١﴾

၃၁။ ဖစ်ရ်အောင်န်၏ထံမှဖြစ်သော။ မုချစင်စစ်၊ ထိုဖစ်ရ်အောင်န်သည် ဆိုးသွမ်းသောင်းကျန်းသူ၊ စည်းကမ်းကျူးလွန်သူ တစ်ဦးပင်ဖြစ်ခဲ့၏။

وَلَقَدِ اخْتَرْنٰهُمْ عَلٰى عِلْمٍ عَلَى الْعٰلَمِيْنَ ﴿٣٢﴾

၃၂။ စင်စစ်သော်ကား ဧကန်အမှန် ငါအရှင်မြတ်သည် သိတော်မူလျက် ထိုအစ္စရာအီလီအမျိုးသားတို့အား ကမ္ဘာသူကမ္ဘာသားတို့ ထက်ဝယ် ရွေးချယ်မြှောက်စားတော်မူခဲ့၏။

وَاٰتَيْنٰهُمْ مِّنَ الْاٰيٰتِ مَا فِيْهِ بَلٰٓؤٌا مُّبِيْنٌ ﴿٣٣﴾

၃၃။ ထိုမှတစ်ပါး ငါအရှင်မြတ်သည် ၎င်းတို့အား ထင်ရှားစွာသော ကျေးဇူးတော်ပါရှိလေသော သက်သေလက္ခဏာတော်များကို ချီးမြှင့် ပေးသနားတော်မူခဲ့ပေသတည်း။

اِنَّ هٰٓؤُلَآءِ لَيَقُوْلُوْنَ ﴿٣٤﴾

၃၄။ ဧကန်မလွဲ ဤသူတို့သည် အမှန်ပင် (ဤသို့) ပြောဆိုကြကုန်၏။

إِنْ هِيَ إِلَّا مَوْتَتُنَا الْأُولَىٰ وَمَا نَحْنُ بِمُنْشَرِينَ ﴿٣٥﴾

၃၅။ ထိုသေဆုံးခြင်းဟူသည် ကျွန်ုပ်တို့၏ ပထမ သေဆုံးခြင်းပင် ဖြစ်၏။ ၎င်းပြင် ကျွန်ုပ်တို့သည် (ဒုတိယအကြိမ်) ရှင်ပြန်ထစေခြင်းကို ခံကြရမည် မဟုတ်ပေ။

فَأْتُوا بِآبَائِنَا إِنْ كُنْتُمْ صَادِقِينَ ﴿٣٦﴾

၃၆။ သို့ဖြစ်ပေရာ (အို-မုစ်လင်မ်အပေါင်းတို့၊) အကယ်၍ အသင်တို့သည် သစ္စာဝါဒီများဖြစ်ကြလျှင် သေဆုံးခဲ့ကြပြီးဖြစ်သော ကျွန်ုပ်တို့၏ အဘ၊ ဘိုး၊ ဘေးတို့အား (တစ်ဖန် ရှင်စေပြီး) ခေါ်ယူခဲ့ကြလေကုန်။

أَهُمْ خَيْرٌ أَمْ قَوْمُ تُبَّعٍ وَالَّذِينَ مِنْ قَبْلِهِمْ أَهْلَكْنَاهُمْ إِنَّهُمْ كَانُوا مُجْرِمِينَ ﴿٣٧﴾

၃၇။ *ထိုသူတို့ကား "တွဗ္ဗအ်"၏အမျိုးသားတို့ထက် လည်းကောင်း၊ ထိုအမျိုးသားတို့အလျှင် ရှိခဲ့ကြသော သူတို့ထက်လည်းကောင်း၊ သာ၍ကောင်းကြလေ သလော။* ① ငါအရှင်မြတ်သည် ထိုသို့သော သူတို့ကို ပင် ၎င်းတို့သည် ပြစ်မှုကိုကျူးလွန်သူများ ဖြစ်ခဲ့ ကြသောကြောင့် ဖျက်ဆီးတော်မူခဲ့ပေသည်။

---

① ဆိုလိုသည်ကား မက္ကာမြို့သား ကာဖိရ်၊ မုရှ်ရစ်က်များသည် ဥစ္စာဂုဏ်၊ ဓနဂုဏ်၊ အာဏာဂုဏ်၊ ဆွေဂုဏ်၊ မျိုးဂုဏ်မောက်ကာ အမှန်တရားကို သွေဖည်နေခဲ့ကြ၏။ ပြစ်မှုအမျိုးမျိုးကို ကျူးလွန်နေခဲ့ကြ၏။ အမှန်မှာ မက္ကာမြို့သား ကာဖိရ်၊ မုရှ်ရစ်က်များသည် ၎င်းတို့၏ အိမ်နီးချင်းဖြစ်သော 'တွဗ္ဗအ်' အမျိုးသားများ၊ 'တွဗ္ဗအ်'အမျိုးသားများ အလျှင်ရှိခဲ့ကြသော အာဒ်၊ဆမူဒ်စသည့် အမျိုးသားများထက် သာခဲ့ကြသည်မဟုတ်။ တွဗ္ဗအ်၊ဆမူဒ်စသည့် အမျိုးသားများသည် ဥစ္စာဂုဏ်၊ အာဏာဂုဏ်၊ ကာယဗလဂုဏ်စသည့် လောကီရေးရာ ဂုဏ်များတွင် မက္ကာမြို့သား ကာဖိရ်၊ မုရှ်ရစ်က်များထက် အသာကြီး သာခဲ့ကြပေသည်။ ဤသည်ကို မက္ကာမြို့သား ကာဖိရ်၊ မုရှ်ရစ်က်များ အသိပင်ဖြစ်ခဲ့ကြပေသည်။

အလ္လာဟ်အရှင်မြတ်သည် ယင်းသို့သော အမျိုးသားများကိုပင် မောက်မာပလွှား၍ ပြစ်မှုကျူးလွန် ကြသည့်အတွက် ကွပ်မျက်တော်မူခဲ့ပေရာ၊ မက္ကာမြို့သား ကာဖိရ်၊ မုရှ်ရစ်က်များကိုမူ အသို့လျှင် လျစ်လျူပြု ထားတော်မူအံ့နည်း။

**"တွဗ္ဗအ်" အမျိုးသား၊**

"တွဗ္ဗအ်" (TUBBA)သည် (YEMEN)ယမန်ပြည်ဘုရင်၏ ဘွဲ့နာမည်ဖြစ်သည်။ ၎င်း၏ အုပ်ချုပ်မှုအာဏာစက်သည် ရှီဟ၊ ဟသွရမောက်တ်စသည့် ပြည်များအထိ ပျံ့နှံ့ခဲ့သည်။ "တွဗ္ဗအ်" ဘွဲ့အမည်ဖြင့် ဘုရင်အမြောက်အမြား ရှိခဲ့ကြသည်။ ဤအာယတ်တော်တွင် အဘယ်"တွဗ္ဗအ်" ဘုရင်အား ရည်ညွှန်းတော်မူသည်ကို အတိအကျမသိ။



وَمَا خَلَقْنَا السَّمٰوٰتِ وَالْاَرْضَ وَمَا بَيْنَهُمَا لٰعِبِيْنَ ﴿٣٨﴾

၃၈။ စင်စစ်သော်ကား ငါအရှင်မြတ်သည် မိုးကောင်းကင်များကိုလည်းကောင်း၊ ပထဝီမြေကိုလည်းကောင်း၊ ယင်းမိုးကောင်းကင်များနှင့် ပထဝီမြေနှစ်ခု၏အကြား၌ရှိသမျှတို့ကိုလည်းကောင်း၊ ကစားခုန်စားသောအားဖြင့် ဖန်ဆင်းတော်မူခဲ့သည် မဟုတ်ပေ။ [၁]

مَا خَلَقْنٰهُمَآ اِلَّا بِالْحَقِّ وَلٰكِنَّ اَكْثَرَهُمْ لَا يَعْلَمُوْنَ ﴿٣٩﴾

၃၉။ (အမှန်စင်စစ်) ငါအရှင်မြတ်သည် ယင်းမိုးကောင်းကင်များနှင့် ပထဝီမြေနှစ်ခုစလုံးကို နက်နဲသိမ်မွေ့ တိကျမှန်ကန်သော အကြောင်းနှင့်တကွ ဖန်ဆင်းတော်မူခဲ့၏။ သို့ရာတွင် ၎င်းတို့အနက်များစွာသောသူတို့မှာ သိရှိကြသည် မဟုတ်ပေ။

اِنَّ يَوْمَ الْفَصْلِ مِيْقَاتُهُمْ اَجْمَعِيْنَ ﴿٤٠﴾

၄၀။ ဧကန်အမှန် စီရင်ဆုံးဖြတ်မည့် နေ့သည် ၎င်းတို့အားလုံးအဖို့ သတ်မှတ်ပြီးဖြစ်သော အချိန်ကာလပင် ဖြစ်၏။

يَوْمَ لَا يُغْنِيْ مَوْلًى عَنْ مَّوْلًى شَيْـًٔا وَّلَا هُمْ يُنْصَرُوْنَ ﴿٤١﴾

၄၁။ ထိုနေ့တွင် မည်သည့်ပတ်သက်သောသူတစ်ဦးတစ်ယောက်မျှပင်၊ မည်သည့်ပတ်သက်သောသူတစ်ဦးတစ်ယောက်အဖို့မျှ လုံး၀ အသုံး၀င်မည်မဟုတ်ပေ၊ ထိုမှတစ်ပါး ၎င်းတို့သည် ကူညီစောင်မခြင်းကိုလည်း ခံကြရမည် မဟုတ်ပေ။

---

➤➤ အသို့ပင်ရှိစေ အဆိုပါ "တဗ္ဗအ်"၏ အမျိုးသားများသည် လောကီရေးရာများတွင် အထူးကျော်ကြား၍ တန်ခိုးအာဏာ အလွန်ကြီးထွားခဲ့ပေသည်။ အီဗ်နုကဆီရ်၏ ယူဆချက်အရ တဗ္ဗအ်၏ အမျိုးသားများသည် အခြားမဟုတ်၊ ကုရ်အာန်ကျမ်းမြတ် ရှီဗာကဏ္ဍတွင် ပါရှိသော ရှီဗာပြည်သားများပင် ဖြစ်ကြပေသည်။

(၁) ဆိုလိုသည်ကား အလ္လာဟ်အရှင်မြတ်သည် ဤမိုး၊မြေနှင့်တကွ စကြာ၀ဠာခပ်သိမ်းကို အကြောင်းမဲ့၊အကျိုးမဲ့ အချည်းနှီး၊အလဟဿ ဖန်ဆင်းထားတော် မူသည်မဟုတ်၊ အကြောင်းနှင့်အကျိုးနှင့် ဖန်ဆင်းထားတော်မူခြင်းသာဖြစ်သည်။

အကျိုးတစ်ရပ်မှာ အရာရာတွင် အကြောင်း၏နောက်တွင် အကျိုးရှိသကဲ့သို့ ဤစကြာ၀ဠာကြီး၏ အကျိုးသည်လည်း တစ်ရက်မှချထွက်ပေါ်လာပေမည်။ ထိုနေ့ကား ကိယာမတ်နေ့ပင်။ ထိုနေ့တွင် ➤➤

إِلَّا مَن رَّحِمَ ٱللَّهُ ۚ إِنَّهُۥ هُوَ ٱلْعَزِيزُ ٱلرَّحِيمُ ﴿٤٢﴾

၄၂။ သို့ရာတွင် အလ္လာဟ်အရှင်မြတ် ကရုဏာပြု တော်မူသောသူမှာမူကား (ကြားဝင်အသနားခံပေးခြင်း ကို ခံရပေမည်)။ စင်စစ်ဧကန် ထိုအရှင်မြတ်သည် အလွန်တရာ နိုင်နင်းလွှမ်းမိုးတော်မူသော အရှင်၊ အလွန်တရာ ကြင်နာသနားတော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

إِنَّ شَجَرَتَ ٱلزَّقُّومِ ﴿٤٣﴾

၄၃။ ဧကန်မလွဲ "ဇက္ကူမ်" ရှားစောင်းကြီးပင်မှာ။

طَعَامُ ٱلْأَثِيمِ ﴿٤٤﴾

၄၄။ လွန်စွာ ပြစ်မှုကျူးလွန်သူ၏ အစားအစာ ဖြစ်၏။ ၁

كَٱلْمُهْلِ يَغْلِى فِى ٱلْبُطُونِ ﴿٤٥﴾

၄၅။ ဆီအနည်ကဲ့သို့၊ ကြေးနီ၊ ကြေးဝါ၊ကြောင်းငွေ စသော အရည်ကျိုထားသောတွင်းထွက်သတ္တုကဲ့သို့။ ဝမ်းဗိုက်များတွင် ကျိုက်ကျိုက်ဆူလျက် ရှိပေမည်။

كَغَلْىِ ٱلْحَمِيمِ ﴿٤٦﴾

၄၆။ ရေနွေးပူ ပွက်ပွက်ဆူသကဲ့သို့ပင်။

خُذُوهُ فَٱعْتِلُوهُ إِلَىٰ سَوَآءِ ٱلْجَحِيمِ ﴿٤٧﴾

၄၇။ သို့ဖြစ်ပေရာ အသင်တို့သည် ၎င်းအား ဖမ်းဆီးပြီးလျှင် "ဂျဟန္နမ်" ငရဲဘုံ ဗဟိုအလယ်သို့ တရွတ်တိုက် ဆွဲချကြလေကုန်။

---

➤➤ အလ္လာဟ်အရှင်မြတ်သည် အားလုံးတို့၏ စာရင်းရှင်းတော်မူမည်။ ကျိုးပြစ်ပေးတော်မူမည်။ ထိုနေ့တွင် အလ္လာဟ်အရှင်မြတ်၏ ကရုဏာတော်ကို ခိုလှုံကြရသူများမှတပါး မည်သူမျှ မည်သူအားမျှ၊ စိုးစဉ်းမျှ အကျိုးပြုနိုင်မည် မဟုတ်ပေ။

(၁) ဂျဟန္နမ်ငရဲတွင် ငရဲသားတို့သည် "ဇက္ကူမ်" ရှားစောင်းကြီးပင်ကိုပင် စားမျိုကြရပေမည်။ ဤမျက်မှောက်ရှိ ရှားစောင်းကြီးပင်၏ ပုံပန်းသဏ္ဍာန်၊ အရသာမှာ ဆိုးရွားလှပြီဖြစ်ရာ ဂျဟန္နမ်ငရဲတွင်ရှိသော ရှားစောင်းကြီးပင်ကား အတိုင်းမသိ ဆိုးရွားပေမည်။

ဂျဟန္နမ်ငရဲတွင်ရှိသော ရှားစောင်းကြီးပင်သည် ဤပစ္စက္ခရှိ ရှားစောင်းကြီးပင်နှင့် ပုံပန်းသဏ္ဍာန်၊ အနံ့အရသာ လုံးဝတစ်မျိုးတစ်စား တည်းဟူ၍ မထင်မှတ်ရာ၊ ထိုနည်းအတူ ဂျန္နတ် အမတသုခဘုံတွင်ရှိသော သစ်သီးဝလံများသည်လည်း ဤပစ္စက္ခရှိ သစ်သီးဝလံများနှင့် တစ်မျိုးတစ်စားတည်းဟူ၍ မထင်မှတ်ရာ။ လူသားတို့ ခန့်မှန်းသိရှိနိုင်ရန်အတွက် သာမန်ဆင်တူဖြစ်သည်ကို အကြောင်းပြ၍ ယင်းသို့ သုံးနှုန်းထားတော် မူခြင်းသာဖြစ်သည်။

ثُمَّ صُبُّوا فَوْقَ رَأْسِهِۦ مِنْ عَذَابِ ٱلْحَمِيمِ ﴿٤٨﴾

၄၈။ ထို့နောက် အသင်တို့သည် ၎င်း၏ဦးခေါင်းထက်ဝယ် ပွက်ပွက်ဆူနေသော ရေနွေးပူ၏ပြစ်ဒဏ်ကို သွန်းလောင်းကြလေကုန်။

ذُقْ إِنَّكَ أَنتَ ٱلْعَزِيزُ ٱلْكَرِيمُ ﴿٤٩﴾

၄၉။ (ထိုအခါ ၎င်းမှာ ဤသို့ပြောဆိုခြင်းကို ခံရပေမည်။) အသင်သည် (ဤပြစ်ဒဏ်၏ အရသာကို) မြည်းစမ်းလေ၊ မလွဲဧကန် အသင်သည် အလွန်မြင့်မြတ်သူ၊ ဂုဏ်မြင့်သူ ဖြစ်ပေသည်။

إِنَّ هَٰذَا مَا كُنتُم بِهِۦ تَمْتَرُونَ ﴿٥٠﴾

၅၀။ ဧကန်မလွဲ ဤသည်ကား အသင်တို့ ယုံမှားသံသယဖြစ်လျက်ရှိခဲ့ကြသောအရာပင်ဖြစ်ချေသတည်း။

إِنَّ ٱلْمُتَّقِينَ فِى مَقَامٍ أَمِينٍ ﴿٥١﴾

၅၁။ ဧကန်အမှန် "မွတ္တကီ" သူတော်စင်တို့မှာ ငြိမ်းချမ်းသာယာသောနေရာဌာနတွင် ရှိကြပေမည်။

فِى جَنَّٰتٍ وَعُيُونٍ ﴿٥٢﴾

၅၂။ ဥယျာဉ်များ၌လည်းကောင်း၊ စမ်းချောင်းများ၌လည်းကောင်း။

يَلْبَسُونَ مِن سُندُسٍ وَإِسْتَبْرَقٍ مُّتَقَٰبِلِينَ ﴿٥٣﴾

၅၃။ ၎င်းတို့သည် ပိုးထည်အပါးစားကိုလည်းကောင်း၊ ပိုးထည်အထူစားကိုလည်းကောင်း၊ ဝတ်ဆင်၍ မျက်နှာချင်းဆိုင် ထိုင်လျက် ရှိကြပေမည်။

كَذَٰلِكَ وَزَوَّجْنَٰهُم بِحُورٍ عِينٍ ﴿٥٤﴾

၅၄။ (ဤဖြစ်ရပ်မှာ) ဤအတိုင်းဖြစ်၏။ ထို့မှတစ်ပါး ငါအရှင်မြတ်သည် ၎င်းတို့အား ဖြူ၍ လုပ တင့်တယ်သော၊ မျက်စိပြူး၍လုပသော၊ မိန်းမများနှင့် ထိမ်းမြား၍ ပေးတော်မူပေမည်။

يَدْعُونَ فِيهَا بِكُلِّ فَٰكِهَةٍ ءَامِنِينَ ﴿٥٥﴾

၅၅။ ၎င်းတို့သည် ယင်းဥယျာဉ်များ၌ အလုံးစုံသော သစ်သီးဝလံတို့ကို အေးချမ်းစွာ မှာယူကြပေမည်။

لَا يَذُوقُونَ فِيهَا ٱلْمَوْتَ

၅၆။ ၎င်းတို့သည် ပထမအကြိမ် သေဆုံးခဲ့ကြသည် မှတစ်ပါး ယင်းဥယျာဉ်များတွင် "မရဏ" သေခြင်း

إِلَّا الْمَوْتَةَ الْأُولَىٰ ۖ وَوَقَاهُمْ عَذَابَ الْجَحِيمِ ﴿٥٦﴾

တရား၏ ရသာကို မြည်းစမ်းကြရမည် မဟုတ်ပြီ၊ ထိုမှတစ်ပါး ၎င်းတို့အား ထိုအရှင်မြတ်သည် "ဂျဟန္နမ်" ငရဲဘုံ၏ ပြစ်ဒဏ်မှ(လည်း) လွတ်ကင်းစေတော်မူပေမည်။

فَضْلًا مِّن رَّبِّكَ ۚ ذَٰلِكَ هُوَ الْفَوْزُ الْعَظِيمُ ﴿٥٧﴾

၅၇။ (ဤသည်တို့ကား) အသင့်အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်၏ ကျေးဇူးတော်ကြောင့် ဖြစ်ပေမည်။ ဤသည်ပင်လျှင် ကြီးကျယ်လှစွာသော အောင်မြင်မှုပင်။

فَإِنَّمَا يَسَّرْنَاهُ بِلِسَانِكَ لَعَلَّهُمْ يَتَذَكَّرُونَ ﴿٥٨﴾

၅၈။ ၎င်းပြင် ဧကန်မလွဲ ငါအရှင်မြတ်သည် ဤကုရ်အာန်ကျမ်းတော်ကို ၎င်းတို့ တရားရယူကြအံ့သောငှာ အသင်၏ဘာသာစကားဖြင့်ပင် လွယ်ကူစေတော်မူခဲ့၏။

فَارْتَقِبْ إِنَّهُم مُّرْتَقِبُونَ ﴿٥٩﴾ ع

၅၉။ သို့ဖြစ်ပေရာ (အို-နဗီတမန်တော်) အသင်သည်လည်း စောင့်စား၍နေပါလေ။ ၎င်းတို့သည်လည်း *စောင့်စား၍နေကြသူများပင် ဖြစ်ကြကုန်သတည်း။*[၁]

---

(၁) ဆိုလိုသည်ကား ကုရ်အာန်ကျမ်းလာ ဒေသနာတော်များကို ဦးစွာပထမ နာခံကြရသူများမှာ အရဗ်အမျိုးသားများ ဖြစ်ခဲ့ကြသည်။ အရဗ်အမျိုးသားများသည် ကုရ်အာန်ကျမ်းလာဒေသနာ တော်များကို လွယ်လင့်တကူ နားလည်သဘောပေါက်၍ တရားရယူ နာယူကျင့်မှုနိုင်ကြရန်အလို့ငှာ ကုရ်အာန်ကျမ်းမြတ်ကို တမန်တော်မြတ်၏ အမိဘာသာစာပေဖြစ်သော အရဗ်ဘာသာစာပေ၌ ထုတ်ပြန်ချမှတ် ပေးတော်မူခဲ့ပေသည်။

သို့ပါလျက် ၎င်းတို့သည် ကုရ်အာန်ကျမ်းလာ ဒေသနာတော်များကို မနာခံကြပါက တမန်တော်မြတ်သည် ၎င်းတို့၌ ဘေးဒုက္ခသက်ရောက်မည်ကို စောင့်စား၍သာနေပါလေ၊ ၎င်းတို့သည်လည်း တမန်တော်မြတ်၌ ဘေးဒုက္ခသက်ရောက်မည်ကို စောင့်စား၍နေကြသည်။ အလ္လာဟ်အရှင်မြတ်သည် မကြာမီ စီရင်တော်မူမည် ဖြစ်သည်။ ထိုအခါ မည်သူသည် အရေးသာ၍ မည်သူသည် အရေးရှုံးနိမ့်မည်ကို သိသွားကြပေမည်။

# ပုဆစ်ဒူးထောက်လျက်နေခြင်းကဏ္ဍ

سُوْرَةُ الْجَاثِيَةِ

ဤကဏ္ဍသည် "ဂျာဆိယဟ်" ပုဆစ်ဒူးထောက်လျက် နေကြရမည့်အကြောင်း ပါဝင်သော ကဏ္ဍမည်၏။ မက္ကာမြို့တော်၌ ကျရောက်ခဲ့၏။ ဤကဏ္ဍတွင် အာယတ်တော် (၃၇)ပါး၊ ရုကူအ် အပိုဒ်(၄)ပိုဒ်၊ အသီးသီးပါရှိ၏။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ

အနန္တကရုဏာတော်ရှင် ဖြစ်တော်မူသော၊
အစဉ်သနားကြင်နာသနားတော်မူသော၊
အလ္လာဟ်အရှင်မြတ်၏ နာမံတော်ဖြင့် အစပြုပါ၏။

حٰمٓ ①

၁။ ဟာ၊ မီမ်။

تَنْزِيْلُ الْكِتٰبِ مِنَ اللّٰهِ الْعَزِيْزِ الْحَكِيْمِ ②

၂။ (ဤသည်) အလွန်တရာ နိုင်နင်းလွှမ်းမိုးတော်မူသော၊ နက်နဲသိမ်မွေ့သော၊ ဆင်ခြင်တုံတရားနှင့် ပြည့်စုံတော်မူသော အလ္လာဟ်အရှင်မြတ်၏အထံတော်မှ ချပေးတော်မူသောကျမ်းဂန်ပင်။ [၁]

اِنَّ فِي السَّمٰوٰتِ وَالْاَرْضِ لَاٰيٰتٍ لِّلْمُؤْمِنِيْنَ ③

၃။ ကောင်းကင်စစ် မိုးကောင်းကင်များ၌လည်းကောင်း၊ ပထဝီမြေ၌လည်းကောင်း၊ "မုအ်မင်န်" သက်ဝင်ယုံကြည်ကြကုန်သောသူတို့အဖို့ အမှန်ပင် သက်သေလက္ခဏာများ ရှိကုန်၏။

وَفِيْ خَلْقِكُمْ وَمَا يَبُثُّ مِنْ دَآبَّةٍ اٰيٰتٌ لِّقَوْمٍ يُّوْقِنُوْنَ ④

၄။ ထို့ပြင် အသင်တို့အား ဖန်ဆင်းခြင်း၌လည်းကောင်း၊ ထိုအရှင်မြတ် ပျံ့နှံ့စေတော်မူသော တိရစ္ဆာန်တို့ကို ဖန်ဆင်းခြင်း၌လည်းကောင်း၊ ယုံကြည်ကြကုန်သောသူတို့အဖို့ သက်သေလက္ခဏာများသည် ရှိကုန်၏။

---

(၁) ဆိုလိုသည်ကား ဤကျမ်းဂန်သည် အလွန်တရာ နိုင်နင်းလွှမ်းမိုးတော်မူသော အတိုင်းမသိ နက်နဲသိမ်မွေ့သော၊ ဆင်ခြင်တုံတရားရှိတော်မူသော၊ တန်ခိုးတော်အနန္တ၊ ဉာဏ်တော်အနန္တနှင့် ပြည့်ဝတော်မူသော အလ္လာဟ်အရှင်မြတ် ထံတော်မှ ချပေးတော်မူသော ကျမ်းဂန်ဓမ္မက္ခန်ဖြစ်တော်မူသည်။ သို့ဖြစ်ရာ ဤကျမ်းဂန်လာ ဒေသနာတော်များကို အထူးတလည် ဂရုမူ၍ နာခံကြရာသတည်း။ ကြည့်-ထာနဝီ။

وَاخْتِلَافِ الَّيْلِ وَالنَّهَارِ وَمَآ أَنْزَلَ اللّٰهُ مِنَ السَّمَآءِ مِنْ رِّزْقٍ فَأَحْيَا بِهِ الْأَرْضَ بَعْدَ مَوْتِهَا وَتَصْرِيفِ الرِّيٰحِ اٰيٰتٌ لِّقَوْمٍ يَّعْقِلُوْنَ ⑤

၅။ ထိုမှတစ်ပါး ညဉ့်နှင့်နေ့တို့ကို ပြောင်းလဲခြင်း၌လည်းကောင်း၊ အလ္လာဟ်အရှင်မြတ်သည် ကောင်းကင်မှ (မိုးရေကို ရွာသွန်းစေတော်မူ၍) စားနပ်ရိက္ခာကို ချပေးတော်မူခြင်း၊ တဖန် ယင်းမိုးရေဖြင့် ပထဝီမြေကို သေ့ခြောက် သေလွန်ပြီးနောက် ရှင်ပြန်(စိမ်းလန်း)စေတော်မူခြင်း၌လည်းကောင်း၊ လေများကို (ဒိသာအရပ်သိမ်းသို့) ပြောင်းလဲတိုက်ခတ်စေခြင်း၌လည်းကောင်း၊ သိနားလည်ကြသောသူတို့အဖို့ သက်သေလက္ခဏာများသည် ရှိကြကုန်သတည်း။

تِلْكَ اٰيٰتُ اللّٰهِ نَتْلُوْهَا عَلَيْكَ بِالْحَقِّ فَبِأَيِّ حَدِيْثٍ بَعْدَ اللّٰهِ وَاٰيٰتِهٖ يُؤْمِنُوْنَ ⑥

၆။ ဤသည်တို့ကား အလ္လာဟ်အရှင်မြတ်၏ သက်သေလက္ခဏာတော်များပင် ငါအရှင်သည် ယင်းသက်သေလက္ခဏာတော်များကို အသင်၏ရှေ့ဝယ် တိကျ မှန်ကန်စွာ ဖတ်ကြားပြတော်မူ၏။ သို့ဖြစ်ပေရာ ထိုသူတို့သည် အလ္လာဟ်အရှင်မြတ်(မှတစ်ပါး ထိုအရှင်မြတ်)၏ သက်သေလက္ခဏာတော်များမှတစ်ပါး မည်သည့်စကားကို ယုံကြည်ကြအံ့နည်း။ [၁]

وَيْلٌ لِّكُلِّ أَفَّاكٍ أَثِيْمٍ ⑦

၇။ အကြင် လွန်စွာမုသားပြောဆိုသူ၊ လွန်စွာပြစ်မှုကျူးလွန်သူတိုင်း၌ အကြီးအကျယ် ပျက်စီးခြင်းသည် ရှိပေမည်။

---

(၁) အထက်တွင်ဖော်ပြပါ သက်တော်လက္ခဏာတော်များသည် အလ္လာဟ်အရှင်မြတ်၏ အနန္တတန်ခိုးတော်၊ အနန္တဉာဏ်တော်များကို ထင်ရှားစွာ ညွှန်ပြနေသော သက်သေလက္ခဏာတော်များ ဖြစ်ပေသည်။ ယင်းသည့် သက်သေလက္ခဏာတော်များကို အလ္လာဟ်အရှင်မြတ်သည် တမန်တော်မြတ်အား ကုရ်အာန်ကျမ်းမြတ်တွင် ဘိကျမှန်ကန်စွာ ဖတ်ကြားပြထားတော်မူသည်။ ဤရွေ့ဤမျှ ထင်ရှားသော သက်သေလက္ခဏာတော်များ အထင်အရှားရှိနေပါလျက် ကာဖိရ်များ၊ မယုံကြည်ပါက ၎င်းတို့ယုံကြည်ရန် အလ္လာဟ်အရှင်မြတ်အပြင် အခြားအသူရှိသေးသနည်း။ ၎င်းတို့နာခံကြရန် ထိုအရှင်မြတ်၏ အာယတ်တော်များအပြင် အခြားမည်သူ၏ စကားရှိသေးသနည်း။ ၎င်းတို့သည် အလ္လာဟ်အရှင်မြတ်၏ ဤရွေ့ဤမျှ တိကျမှန်ကန် ထင်ရှားသော အာယတ်တော်များကိုပင် မနာခံကြပေရာ၊ အဘယ်အရာကိုနာခံရန် စောင့်မျှော်နေကြသနည်း။ ကြည့်-အွတ်ဆ်မာနီ။

يَّسْمَعُ اٰيٰتِ اللّٰهِ تُتْلٰى عَلَيْهِ ثُمَّ يُصِرُّ مُسْتَكْبِرًا كَاَنْ لَّمْ يَسْمَعْهَا ۚ فَبَشِّرْهُ بِعَذَابٍ اَلِيْمٍ ⑧

၈။ ထိုသူသည် မိမိရှေ့ဝယ် ဖတ်ကြားပြသော အလ္လာဟ်အရှင်မြတ်၏အာယတ်တော်များကို နားထောင်လေ၏။ သို့ပါလျက် ၎င်းမှာ ယင်းအာယတ်တော်များကို မကြားခဲ့ဘိသကဲ့သို့ပင် (မိမိ၏ဝါဒ လမ်းစဉ်ပေါ်၌ သာလျှင်) မာန်မာန ထောင်လွှားကာ ဆက်လက်တင်းမာ၍သာ နေလေ၏။ သို့ဖြစ်ပေရာ (အို-နဗီတမန်တော်) အသင်သည် ၎င်းအား အလွန်တရာ နာကျင်ဖွယ်ဖြစ်သော ပြစ်ဒဏ်နှင့် စပ်လျဉ်း၍ သတင်းကောင်း ပြောကြားပါလေ။

وَاِذَا عَلِمَ مِنْ اٰيٰتِنَا شَيْئًا اتَّخَذَهَا هُزُوًا ۗ اُولٰٓئِكَ لَهُمْ عَذَابٌ مُّهِيْنٌ ⑨

၉။ ၎င်းပြင် ထိုသူသည် ငါအရှင်မြတ်၏ အာယတ်တော်များအနက် အာယတ်တော် တစ်စုံတစ်ရာကို သိရှိခဲ့သောအခါ ၎င်းသည် ယင်းအာယတ်တော်ကိုပင် ပြက်ရယ်ပြောင်လှောင်ဖွယ်ရာ ပြုလုပ်လေ့ရှိ၏။ ထိုကဲ့သို့သောသူတို့၌ ကျိုးယုတ်ရှက်ရဖြစ်စေသော ပြစ်ဒဏ်သည် ရှိချေမည်။

مِنْ وَّرَآئِهِمْ جَهَنَّمُ ۚ وَلَا يُغْنِيْ عَنْهُمْ مَّا كَسَبُوْا شَيْئًا وَّلَا مَا اتَّخَذُوْا مِنْ دُوْنِ اللّٰهِ اَوْلِيَآءَ ۚ وَلَهُمْ عَذَابٌ عَظِيْمٌ ⑩

၁၀။ ၎င်း၏ရှေ့မှောက်ဝယ် "ဂျဟန္နမ်" ငရဲဘုံသည် ရှိနေလေ၏။ ထို့ပြင် ထိုသူတို့ ရှာဖွေ ဆည်းပူးခဲ့သမျှတို့သည်လည်းကောင်း၊ ထိုသူတို့က အလ္လာဟ်အရှင်မြတ်အပြင် ကိစ္စအဝဝကို ပြီးစီးအောင် ဆောင်ရွက်ပေးသူများဟူ၍ ပြုလုပ်သတ်မှတ်ထားသူတို့သည်လည်းကောင်း၊ ထိုသူအဖို့ အနည်းငယ် စိုးစဉ်းမျှပင် အသုံးဝင်ကြမည် မဟုတ်ပေ။ ထိုမှတစ်ပါး ၎င်းတို့၌ ကြီးလေးလှစွာသော ပြစ်ဒဏ်သည် ရှိပေမည်။

هٰذَا هُدًى ۚ وَالَّذِيْنَ كَفَرُوْا بِاٰيٰتِ رَبِّهِمْ

၁၁။ (ဤကုရ်အာန်ကျမ်းတော်မြတ်)သည် တရားလမ်းညွှန်ပင် ဖြစ်ပေသည်။ သို့ဖြစ်ရာ မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၏ အာယတ်တော်များကို ငြင်းပယ်ကြကုန်သောသူတို့၌ ပြင်းထန်

لَهُمْ عَذَابٌ مِّن رِّجْزٍ أَلِيمٌ ﴿١١﴾

သော ပြစ်ဒဏ်အနက်မှ အလွန်တရာ နာကျင်ဖွယ်ဖြစ်သော ပြစ်ဒဏ်သည် ရှိပေအံ့သတည်း။

ٱللَّهُ ٱلَّذِى سَخَّرَ لَكُمُ ٱلْبَحْرَ لِتَجْرِىَ ٱلْفُلْكُ فِيهِ بِأَمْرِهِۦ وَلِتَبْتَغُوا۟ مِن فَضْلِهِۦ وَلَعَلَّكُمْ تَشْكُرُونَ ﴿١٢﴾

၁၂။ အလ္လာဟ်အရှင်မြတ်သည်ပင် ပင်လယ်သမုဒ္ဒရာကို ယင်းပင်လယ်သမုဒ္ဒရာ၌ သင်္ဘောများ ထိုအရှင်မြတ်၏အမိန့်တော်နှင့် လှုပ်ရှားသွားလာအံ့သောငှာလည်းကောင်း၊ အသင်တို့သည် ထိုအရှင်မြတ်၏ ကျေးဇူးတော်တည်းဟူသော စားနပ်ရိက္ခာကို ဆည်းပူးရှာဖွေကြအံ့သောငှာလည်းကောင်း၊ အသင်တို့သည် ကျေးဇူးတင်ကြအံ့သောငှာလည်းကောင်း၊ အသင်တို့၏ လက်အောက်ခံ ဖြစ်စေတော်မူခဲ့၏။

وَسَخَّرَ لَكُم مَّا فِى ٱلسَّمَٰوَٰتِ وَمَا فِى ٱلْأَرْضِ جَمِيعًا مِّنْهُ ۚ إِنَّ فِى ذَٰلِكَ لَءَايَٰتٍ لِّقَوْمٍ يَتَفَكَّرُونَ ﴿١٣﴾

၁၃။ ထိုမှတစ်ပါး ထိုအရှင်မြတ်သည် မိုးကောင်းကင်များ၌ရှိသမျှကိုလည်းကောင်း၊ ကမ္ဘာမြေဝယ် ရှိသမျှကိုလည်းကောင်း၊ အလုံးစုံတို့ကို မိမိအထံတော်မှ အသင်တို့၏လက်အောက်ခံ ဖြစ်စေတော်မူခဲ့၏။ ဧကန်မလွဲ ထိုသည်တို့၌ စဉ်းစားဆင်ခြင်ကြသော သူတို့အဖို့ အမှန်သက်သေ လက္ခဏာများသည် ရှိကုန်၏။

قُل لِّلَّذِينَ ءَامَنُوا۟ يَغْفِرُوا۟ لِلَّذِينَ لَا يَرْجُونَ أَيَّامَ ٱللَّهِ لِيَجْزِىَ قَوْمًۢا بِمَا كَانُوا۟ يَكْسِبُونَ ﴿١٤﴾

၁၄။ (အို-နဗီတမန်တော်) အသင်သည် "မုအ်မင်န်" သက်ဝင်ယုံကြည်သူတို့အား ၎င်းတို့သည် *အလ္လာဟ်အရှင်မြတ်ပြုလုပ်တော်မူအံ့သောကိစ္စများကို* [၁] ယုံကြည် (စိုးရိမ်)ခြင်း မရှိကြသောသူတို့အား ခွင့်လွှတ်ကြရန် ပြောကြားပါလေ။ ထိုမှသာလျှင် ထိုအရှင်မြတ်သည် လူမျိုးတစ်မျိုးအား ၎င်းတို့ ရှာဖွေဆည်းပူးခဲ့ကြသည်များနှင့်စပ်လျဉ်း၍ အစားပေးတော်မူအံ့။

---

(၁) **အလ္လာဟ်အရှင်မြတ်၏နေ့များ၊**

"အလ္လာဟ်အရှင်မြတ်၏နေ့များ"ဟူသည် အကြင်နေ့များကို ဆိုလိုသည်။ ယင်းနေ့များတွင် အလ္လာဟ်အရှင်မြတ်သည် အမိန့်တော်မနာခံသော သာသနာ့ရန်သူများကို ပြစ်ဒဏ်တစ်စုံတစ်ရာ ခတ်တော်မူသည်။ သို့မဟုတ် အမိန့်တော်နာခံသော သူတော်စင်များအား တစ်စုံတစ်ရာ ကျေးဇူးအထူးပြုတော်မူသည်။ ➤➤

مَنْ عَمِلَ صَالِحًا فَلِنَفْسِهٖ ۚ وَمَنْ اَسَاۤءَ فَعَلَيْهَا ۖ ثُمَّ اِلٰى رَبِّكُمْ تُرْجَعُوْنَ ۞١٥

၁၅။ မည်သူမဆို ကောင်းမှုပြုခဲ့လျှင် ၎င်း၏အကျိုး ၄ှာ ဖြစ်ပေမည်။ ထိုနည်းတူစွာ မည်သူမဆို မကောင်းမှု ပြုခဲ့သော် ၎င်း၏အပေါ်၌သာ သက်ရောက်ပေမည်။ ထို့နောက် အသင်တို့အားလုံးတို့မှာ ထိုအရှင်မြတ်အထံ တော်သို့သာလျှင် ပြန်သွားကြရမည်။

وَلَقَدْ اٰتَيْنَا بَنِيْٓ اِسْرَاۤءِيْلَ الْكِتٰبَ وَالْحُكْمَ وَالنُّبُوَّةَ وَرَزَقْنٰهُمْ مِّنَ الطَّيِّبٰتِ وَفَضَّلْنٰهُمْ عَلَى الْعٰلَمِيْنَ ۞١٦

၁၆။ ၎င်းပြင် အမှန်စင်စစ် ငါအရှင်မြတ်သည် ဣစ်ရာအီလီအမျိုးသားတို့အား ကျမ်းဂန်ကိုလည်း ကောင်း၊ စီရင်ဆုံးဖြတ်မှုကိုလည်းကောင်း၊ နဗီ တမန်တော်အဖြစ်ကိုလည်းကောင်း၊ ချီးမြှင့်ပေးသနား တော်မူခဲ့၏။ ထို့ပြင် ငါအရှင်မြတ်သည် ၎င်းတို့အား သန့်ပြန့်စင်ကြယ်သော အစားအစာကို စားနပ်ရိက္ခာ အဖြစ် ပေးသနားတော်မူခဲ့၏။ ထိုမှတစ်ပါး ၎င်းတို့အား ငါအရှင်မြတ်သည် ကမ္ဘာသူ ကမ္ဘာသားတို့ထက် ထူးကဲစေတော်မူခဲ့၏။

وَاٰتَيْنٰهُمْ بَيِّنٰتٍ مِّنَ الْاَمْرِ ۚ

၁၇။ ထိုမှတစ်ပါး ငါအရှင်မြတ်သည် ၎င်းတို့အား သာသနာ့အရေးနှင့် စပ်လျဉ်း၍ ထင်ရှားစွာသော သက်သေသာဓကများကို ချီးမြှင့်ပေးသနားတော်မူခဲ့၏။

---

➤➤ သို့ဖြစ်ရာ "အလ္လာဟ်အရှင်မြတ်၏ နေ့များကို မမျှော်သောသူများ"ကား အကြင်ကာဖိရ်များပင်၊ ၎င်းတို့သည် အလ္လာဟ်အရှင်မြတ်၏ ကရုဏာတော်ကိုလည်း မမျှော်လင့်ကြပေ၊ ထိုအရှင်မြတ်၏ ပြစ်ဒဏ်ကိုလည်း မစိုးရိမ်ကြပေ။

အချို့က "အလ္လာဟ်အရှင်မြတ်၏ နေ့များ"ဟူသည် အတိတ်ခေတ်များတွင် သက်ဆိုင်ရာ အမျိုးသားတို့ အပေါ်၌ ထိုအရှင်မြတ်၏ ပြစ်ဒဏ်များ၊ ကျေးဇူးတော်များ သက်ရောက်ခဲ့သည့် အဖြစ်အပျက်ကြီးများကို ဆိုလိုကြသည်။

အချို့က "အလ္လာဟ်အရှင်မြတ်၏နေ့များ" ဟူသည် ကိယာမတ်နေ့တွင် လူသားတို့နှင့်ပတ်သက်၍ အထူးတလည် စီမံဖန်တီးတော်မူမည့် အစီအမံများကို ဆိုလိုကြသည်။ ဥပမာ-ကိယာမတ်နေ့တွင် အလ္လာဟ် အရှင်မြတ်သည် အမိန့်တော်နာခံသော သူတော်စင်များအား အထူးမြှောက်စားတော်မူ၍ အမိန့်တော် မနာခံသော သူယုတ်တို့အား ကြီးလေးသော ပြစ်ဒဏ်များကို ခတ်တော်မူသည်။

"အလ္လာဟ်အရှင်မြတ်၏ နေ့များ"ဟူသော အသုံးအနှုန်းသည် ကုရ်အာန်(၁၄း၅)တွင်လည်း ပါရှိခဲ့ချေပြီ။ သက်ဆိုင်ရာအဖွင့်များကိုလည်း အကျယ်ရေးသားခဲ့ပေပြီ။

فَمَا اخْتَلَفُوْٓا اِلَّا مِنْۢ بَعْدِ
مَا جَآءَهُمُ الْعِلْمُ ۙ بَغْيًاۢ بَيْنَهُمْ ۭ
اِنَّ رَبَّكَ يَقْضِيْ
بَيْنَهُمْ يَوْمَ الْقِيٰمَةِ فِيْمَا كَانُوْا
فِيْهِ يَخْتَلِفُوْنَ ﴿١٧﴾

သို့ပါလျက် ၎င်းတို့သည် မိမိတို့ထံ အသိပညာ ရောက်လာပြီးနောက်သော်မှပင် မိမိတို့အချင်းချင်း တုပြိုင်သောအားဖြင့် ကွဲလွဲခဲ့ကြကုန်၏။ ကေန်မလွဲ အသင့်အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်သည် ၎င်းတို့၏ အကြားဝယ် "ကိယာမတ်" ရှင်ပြန်ထမည့်နေ့တွင် ၎င်းတို့ ကွဲပြားလျက်ရှိခဲ့ကြသောအရေးကိစ္စနှင့် စပ်လျဉ်း၍ စီရင်ဆုံးဖြတ်တော်မူပေမည်။

ثُمَّ جَعَلْنٰكَ عَلٰي شَرِيْعَةٍ مِّنَ
الْاَمْرِ فَاتَّبِعْهَا وَلَا تَتَّبِعْ اَهْوَاۗءَ
الَّذِيْنَ لَا يَعْلَمُوْنَ ﴿١٨﴾

၁၈။ ထို့နောက် (အို-နဗီတမန်တော်) ထိုအရှင်မြတ်သည် အသင့်အား သာသနာ့အရေးနှင့် စပ်လျဉ်း၍ အထူးလမ်းစဉ် တစ်ရပ်ပေါ်၌ ရပ်တည်စေတော်မူခဲ့၏။ သို့ဖြစ်ပေရာ အသင်သည် ထိုလမ်းစဉ်ကိုသာ လိုက်ပါလေ။ အသင်သည် အသိပညာ ကင်းမဲ့သောသူတို့၏ အလိုဆန္ဒများကို မလိုက်ပါလေနှင့်။ [၁]

اِنَّهُمْ لَنْ يُّغْنُوْا عَنْكَ مِنَ اللّٰهِ
شَـيْـــًٔا ۭ وَاِنَّ الظّٰلِمِيْنَ بَعْضُهُمْ
اَوْلِيَاۗءُ بَعْضٍ ۚ وَاللّٰهُ وَلِيُّ
الْمُتَّقِيْنَ ﴿١٩﴾

၁၉။ ကေန်စင်စစ် ၎င်းတို့သည် အလ္လာဟ်အရှင်မြတ်နှင့်ဆန့်ကျင်၍ အနည်းငယ်မျှပင် အသင့်အဖို့ အလျှင်းအသုံးဝင်ကြမည် မဟုတ်ပေ။ ၎င်းပြင် ကေန်အမှန် မတရားသောသူတို့သည် ၎င်းတို့အနက် အချို့မှာအချို့၏အဆွေခင်ပွန်းများပင် ဖြစ်ကြကုန်၏။ အလ္လာဟ်အရှင်မြတ်မူကား "မွတ္တကီ" သူတော်စင်တို့၏ အဆွေခင်ပွန်း ဖြစ်တော်မူ၏။

---

(၁) အထက်၌ ပါရှိသည့်အတိုင်း အစ္စရာအီလီ မျိုးနွယ်ဝင်များသည် အသိတရားရရှိပါလျက် စိတ်အလိုလိုက်ကာ အချင်းချင်းသဘောကွဲလွဲပြီး အုပ်စုအမျိုးမျိုး ကွဲပြားအငြင်းပွားနေချိန်မှာ အလ္လာဟ်အရှင်မြတ်သည် တမန်တော်မြတ်အား အစ္စလာမ်၏ 'ရှရီအတ်'လမ်းစဉ်ကို အထူးတလည် ချီးမြှင့်တော်မူခဲ့သည်ဖြစ်ရာ၊ တမန်တော်မြတ်နှင့်တကွ တမန်တော်မြတ်၏ 'အွမ္မတ်' နောက်လိုက်တပည့်သားတို့သည် အစ္စလာမ်၏ ယင်းရှရီအတ်လမ်းစဉ်ကို တိကျမှန်ကန်စွာ လိုက်နာကြရမည်သာ။

အစ္စရာအီလီ မျိုးနွယ်ဝင်များ၏ စိတ်အလိုကို မေ့မှား၍မျှမလိုက်နာကြရာ ၎င်းတို့သည် တမန်တော်မြတ်နှင့်တကွ မုစ်လင်မ်တို့အား အမျိုးမျိုးကဲ့ရဲ့ပြစ်တင်၍ အမျိုးမျိုး ကျူးကျော်စော်ကား၍ စိတ်ဓာတ်ကျဆင်းစေပြီး အစ္စလာမ်၏ တရားဓမ္မဟောကြားမှုကို စွန့်ပယ်သွားကြရန်ကိုပင် လိုလားခဲ့ကြပေသည်။ ယုတ်စွအဆုံး➤➤

هٰذَا بَصَآئِرُ لِلنَّاسِ وَهُدًى وَّرَحْمَةٌ لِّقَوْمٍ يُّوْقِنُوْنَ ﴿٢٠﴾

၂၀။ ဤ(ကုရ်အာန်ကျမ်းတော်မြတ်)သည် လူတို့အဖို့ ထင်ရှားစွာသော သက်သေသာဓကများလည်း ဖြစ်သည်။ ယုံကြည်သောသူတို့အဖို့ တရားလမ်းညွှန်လည်း ဖြစ်သည်၊ ကရုဏာတော်လည်း မည်သည်။

اَمْ حَسِبَ الَّذِيْنَ اجْتَرَحُوا السَّيِّاٰتِ اَنْ نَّجْعَلَهُمْ كَالَّذِيْنَ اٰمَنُوْا وَعَمِلُوا الصّٰلِحٰتِ ۙ سَوَآءً مَّحْيَاهُمْ وَمَمَاتُهُمْ ۗ سَآءَ مَا يَحْكُمُوْنَ ﴿٢١﴾

၂၁။ မကောင်းမှုများကို ကျူးလွန်ကြသောသူတို့က ငါအရှင်မြတ်သည် ထိုသူတို့အား "အီမာန်" သက်ဝင်ယုံကြည်၍ ကောင်းမှုများကို ကျင့်မူခဲ့ကြကုန်သောသူတို့ကဲ့သို့ ထိုသူတို့၏အသက်ရှင်ခြင်းကို လည်းကောင်း၊ ထိုသူတို့၏အသက်သေဆုံးခြင်းကို ပြုလုပ်တော်မူမည်ဟု ထင်မှတ်ကြလေသလော။ ၎င်းတို့၏ စီရင်ဆုံးဖြတ်ချက်မှာ လွန်စွာ ဆိုးရွားလှပေ၏။ ①

وَخَلَقَ اللّٰهُ السَّمٰوٰتِ وَالْاَرْضَ بِالْحَقِّ وَلِتُجْزٰى كُلُّ نَفْسٍۢ بِمَا كَسَبَتْ وَهُمْ لَا يُظْلَمُوْنَ ﴿٢٢﴾

၂၂။ စင်စစ်သော်ကား အလ္လာဟ်အရှင်မြတ်သည် မိုးကောင်းကင်များကိုလည်းကောင်း၊ ပထဝီမြေကြီးကိုလည်းကောင်း၊ နက်နဲသိမ်မွေ့သောဆင်ခြင်တုံတရားနှင့် လျော်ညီစွာ ဖန်ဆင်းတော်မူခဲ့၏။ ၎င်းပြင် လူတိုင်းလူတိုင်း မိမိတို့ ရှာဖွေဆည်းပူးခဲ့သော (ကောင်းမှု၊ မကောင်းမှု)နှင့်စပ်လျဉ်း၍ အစားပေးခြင်းခံရအံ့သောငှာ(ဖန်ဆင်းတော်မူခဲ့၏။) သို့ရာတွင် ၎င်းတို့သည် မတရားမှု ပြုလုပ်ခြင်းကို ခံကြရမည်မဟုတ်ပေ။

---

➤➤ ၎င်းတို့နည်းတူ မုစ်လင်မ်များအချင်းချင်း အုပ်စုကွဲကြရန်ကိုလည်း လိုလားခဲ့ကြပေသည်။ သို့ဖြစ်ရာ တမန်တော်မြတ် နှင့်တကွ တမန်တော်၏ နောက်လိုက်တပည့်တို့သည် ၎င်းတို့၏အလိုကို မေ့မှား၍မျှ မလိုက်နာမိကြရာ။ တရားဓမ္မဟောကြားမှုကို မစွန့်လွှတ်ကြရာ၊ အချင်းချင်း မကွဲကြရာ။

① တစ်ခါသော် မက္ကာမြို့သား အချို့မုရှ်ရစ်က်များက မုစ်လင်မ်တို့အား "အသင်တို့ ပြောဆိုသော နောင်တမလွန်ဘဝသည် အကယ်ပင် ဖြစ်ရှိနေပါကလည်း ငါတို့သည် ဤပစ္စက္ခတွင် အသင်တို့ထက် သာကြသကဲ့သို့ နောင်တမလွန်ဘဝတွင်လည်း အသင်တို့ထက် မချသာကြဦးမည်ပင်ဖြစ်သည်"ဟု ဆိုခဲ့ကြလေသည်။

ကြည့်-ခါဇင်န်။

ဆိုလိုသည်ကား- အကောင်းနှင့်မကောင်းသည်၊ မတူသကဲ့သို့ ကောင်းကျိုးနှင့် ဆိုးကျိုးလည်း မတူနိုင်ပေ။ အုပ်စုတစ်ခုသည် အလ္လာဟ်အရှင်မြတ်အား သွေဖည်ခဲ့၏။ မကောင်းမှု ဒုစရိုက်များတွင် ➤➤

أَفَرَءَيْتَ مَنِ اتَّخَذَ إِلَٰهَهُۥ هَوَىٰهُ وَأَضَلَّهُ ٱللَّهُ عَلَىٰ عِلْمٍ وَخَتَمَ عَلَىٰ سَمْعِهِۦ وَقَلْبِهِۦ وَجَعَلَ عَلَىٰ بَصَرِهِۦ غِشَٰوَةً فَمَن يَهْدِيهِ مِنۢ بَعْدِ ٱللَّهِ ۚ أَفَلَا تَذَكَّرُونَ ﴿٢٣﴾

၂၃။ (အို-နဗီတမန်တော်) မိမိစိတ်အလိုဆန္ဒကို မိမိဆည်းကပ်ကိုးကွယ်ရာ ပြုလုပ်ထားသောသူအား အသင်မမြင်လေသလော။ စင်စစ်သော်ကား အလ္လာဟ် အရှင်မြတ်သည် သိတော်မူပါလျက်နှင့်ပင် ၎င်းအား လမ်းမှား၌ရှိစေတော်မူခဲ့၏။ ၎င်းပြင် ထိုအရှင်မြတ်သည် ထိုသူ၏နားပေါ်၌လည်းကောင်း၊ ထိုသူ၏ စိတ်နှလုံးပေါ်၌လည်းကောင်း၊ တံဆိပ်ခတ်နှိပ်တော်မူခဲ့၏။ ထိုမှ တစ်ပါး ထိုအရှင်မြတ်သည် ၎င်း၏မျက်စိပေါ်ဝယ် အကာအဖုံးကို ပြုလုပ်ထားတော်မူခဲ့၏။

သို့ဖြစ်ပေရာ ထိုသူအား အလ္လာဟ်အရှင်မြတ်မှ လွဲ၍ မည်သူ တရားလမ်းမှန်ကို ညွှန်ပြအံ့နည်း။ သို့ပါလျက် အသင်တို့သည် တရားရယူကြသည် မရှိလေသလော။

وَقَالُوا۟ مَا هِىَ إِلَّا حَيَاتُنَا ٱلدُّنْيَا نَمُوتُ وَنَحْيَا وَمَا يُهْلِكُنَآ إِلَّا ٱلدَّهْرُ ۚ وَمَا لَهُم بِذَٰلِكَ مِنْ عِلْمٍ ۖ إِنْ هُمْ إِلَّا يَظُنُّونَ ﴿٢٤﴾

၂၄။ ထို့ပြင် ၎င်းတို့က အသက်ရှင်ခြင်းဟူသည် (ဤ)လောကီဘဝ၌ ကျွန်ုပ်တို့၏ အသက်ရှင်ခြင်းမှ တစ်ပါးအခြားမရှိပြီ။ ကျွန်ုပ်တို့သည် (တစ်ကြိမ်တစ်ခါ သာလျှင်) အသက်သေဆုံးကြ၍ (တစ်ကြိမ်တစ်ခါ သာလျှင်) အသက်ရှင်ကြကုန်၏။ စင်စစ် ကျွန်ုပ်တို့အား ခေတ်ကာလသည်သာလျှင် ပျက်စီးစေ၏။ အမှန်စင်စစ် မှာမူကား ဤသည်နှင့်စပ်လျဉ်း၍ ၎င်းတို့၌ မည်သည့် အသိပညာမျှပင် မရှိချေ။ ၎င်းတို့သည် ရမ်းဆ(ပြောဆို) နေကြသည်သာ ဖြစ်သည်။

---

➤➤ နစ်မွန်းနေခဲ့၏။ အခြားအုပ်စုတစ်ခုသည် အလ္လာဟ်အရှင်မြတ်အား ယုံကြည်၏။ ကောင်းမြတ်သော အကျင့်သီလများကို ဆောက်တည်၏။ ထိုအုပ်စုနှစ်ခုသည် အချင်းချင်း ဖြောင့်ဖြောင့်ကြီး ဆန့်ကျင်လျက်ရှိပေရာ၊ ယင်းဆန့်ကျင်ဘက်အုပ်စု နှစ်ခု၏ အကျိုးဆက်သည် အသို့လျှင် တူညီနိုင်အံ့နည်း။ မက္ကာမြို့သား မုရှ်ရစ်က်များ၏ ပြောဆိုချက်သည် မှားခြင်းကြီးမကမှား၏။ ၎င်းတို့၏ ဆုံးဖြတ်ချက်မှာ ဆိုးရွားခြင်းကြီးမက ဆိုးရွား၏။

وَإِذَا تُتْلَىٰ عَلَيْهِمْ آيَاتُنَا بَيِّنَاتٍ مَّا كَانَ حُجَّتَهُمْ إِلَّا أَن قَالُوا ائْتُوا بِآبَائِنَا إِن كُنتُمْ صَادِقِينَ ﴿٢٥﴾

၂၅။ ထိုမှတစ်ပါး ၎င်းတို့ရှေ့ဝယ် ငါအရှင်မြတ်၏ ထင်ရှားစွာသော အာယတ်တော်များ ဖတ်ကြားခြင်း ခံရလေသောအခါ ၎င်းတို့က "အသင်တို့သည် သစ္စာဝါဒီများဖြစ်ကြလျှင် ကျွန်ုပ်တို့၏(သေဆုံးလေပြီးသော) အဘ၊ ဘိုး၊ ဘေးတို့အား (တစ်ဖန် ရှင်ပြန်ထစေပြီး) ခေါ်ယူခဲ့ကြလေကုန်" ဟု ပြောဆိုခြင်းမှတစ်ပါး မည်သို့မျှ ဆင်ခြေတက်နိုင်ကြသည် မရှိပေ။

قُلِ اللَّهُ يُحْيِيكُمْ ثُمَّ يُمِيتُكُمْ ثُمَّ يَجْمَعُكُمْ إِلَىٰ يَوْمِ الْقِيَامَةِ لَا رَيْبَ فِيهِ وَلَٰكِنَّ أَكْثَرَ النَّاسِ لَا يَعْلَمُونَ ﴿٢٦﴾

၂၆။ (အို-နဗီတမန်တော်) အသင်သည် ပြောကြားပါလေ။ (အချင်းတို့၊) အလ္လာဟ်အရှင်မြတ်သည်ပင် အသင်တို့အား ရှင်စေတော်မူသည်။ ထို့နောက် ထိုအရှင်မြတ်သည်ပင် အသင်တို့အား သေစေတော်မူမည်။ ထို့နောက် ထိုအရှင်မြတ်သည်ပင် အသင်တို့အား ဒွိဟသံသယ အလျှင်းမရှိသော "ကိယာမတ်" ရှင်ပြန်ထမည့်နေ့တွင် စုရုံးတော်မူပေမည်။ သို့ရာတွင် အများဆုံးသောသူတို့မှာမူကား သိရှိကြသည် မဟုတ်ပေ။

وَلِلَّهِ مُلْكُ السَّمَاوَاتِ وَالْأَرْضِ ۚ وَيَوْمَ تَقُومُ السَّاعَةُ يَوْمَئِذٍ يَخْسَرُ الْمُبْطِلُونَ ﴿٢٧﴾

၂၇။ ၎င်းပြင် မိုးကောင်းကင်များကို စိုးမိုးအုပ်ချုပ်မှုသည်လည်းကောင်း၊ ကမ္ဘာမြေကို စိုးမိုးအုပ်ချုပ်မှုသည်လည်းကောင်း၊ အလ္လာဟ်အရှင်မြတ်၌သာ ရှိ၏။ ထိုမှတစ်ပါး "ကိယာမတ်" ရှင်ပြန်ထမည့် အချိန်ကာလဆိုက်ရောက်လာမည့်နေ့တွင်မူ အမှားကို လိုက်စားကြကုန်သောသူတို့မှာ ပျက်စီးဆုံးရှုံးကြပေမည်။ [၁]

---

(၁) အထက်တွင် ကိယာမတ်နေ့၌ အလ္လာဟ်အရှင်မြတ်သည် လူသားအားလုံးတို့အား ရှင်ပြန်ထစေပြီး စုရုံးတော်မူမည့်အကြောင်း ပါရှိ၏။ ဤသည် ထိုအရှင်မြတ်အဖို့ အသို့မျှ အခက်အခဲမရှိ။ အဘယ်ကြောင့်ဆိုသော် မိုး၊မြေနှင့်တကွ စကြာဝဠာအဝှန်းကို စိုးမိုးအုပ်ချုပ်သည့် အာဏာစက်သည် ထိုအရှင်မြတ်၏ လက်တော်တွင်း၌သာ ရှိပေသည်။ အလိုတော်ရှိသလို ခြယ်လှယ်တော်မူနိုင်ပေသည်။ သို့ဖြစ်ရာ ကိယာမတ်နေ့နှင့် စပ်လျဉ်း၍ လွဲမှားနေသော၊ ကိယာမတ်ကို မယုံကြည်သောသူများသည် ကိယာမတ်ဖြစ်သည့်နေ့တွင် အကြီးအကျယ် ဆုံးရှုံးပျက်စီးကြရပေမည်။

وَتَرٰى كُلَّ اُمَّةٍ جَاثِيَةً ۫ كُلُّ اُمَّةٍ تُدْعٰٓى اِلٰى كِتٰبِهَا ؕ اَلْيَوْمَ تُجْزَوْنَ مَا كُنْتُمْ تَعْمَلُوْنَ ﴿٢٨﴾

၂၈။ ထိုမှတစ်ပါး (အို–နဗီတမန်တော်) အသင်သည် ("ကိယာမတ်" နေ့တွင်) သာသနာဝင် အုပ်စုတိုင်းအား ဒူးထောက်လျက် ရှိကြမည်ကို တွေ့မြင်ရပေမည်။ သာသနာဝင် အုပ်စုတိုင်းမှ ၎င်းတို့၏ မှတ်တမ်းစာအုပ် (ရှိရာ)သို့ ဖိတ်ခေါ်ခြင်းကို ခံကြရပေမည်။ "ယနေ့ သော်ကား အသင်တို့သည် မိမိတို့၏ ကျင့်မှုချက်များနှင့် စပ်လျဉ်း၍ အစားပေးခြင်းကို ခံကြရပေမည်"။

هٰذَا كِتٰبُنَا يَنْطِقُ عَلَيْكُمْ بِالْحَقِّ ؕ اِنَّا كُنَّا نَسْتَنْسِخُ مَا كُنْتُمْ تَعْمَلُوْنَ ﴿٢٩﴾

၂၉။ ဤသည် ငါအရှင်မြတ်၏ မှတ်တမ်းစာအုပ်ပင်။ ယင်းမှတ်တမ်းစာအုပ်သည် အသင်တို့နှင့်ပတ်သက်၍ တိကျမှန်ကန်စွာ ပြောပြနေပေသည်။ ဧကန်မလွဲ ငါ အရှင်မြတ်သည် အသင်တို့ ကျင့်မှုခဲ့ကြသည်ကို ရေးမှတ်စေလျက် ရှိတော်မူခဲ့ပေသတည်း။ [၁]

فَاَمَّا الَّذِيْنَ اٰمَنُوْا وَعَمِلُوا الصّٰلِحٰتِ فَيُدْخِلُهُمْ رَبُّهُمْ فِيْ رَحْمَتِهٖ ؕ ذٰلِكَ هُوَ الْفَوْزُ الْمُبِيْنُ ﴿٣٠﴾

၃၀။ သို့ဖြစ်ပေရာ သက်ဝင်ယုံကြည်၍ ကောင်းမှုများကို ကျင့်မှုကြကုန်သောသူတို့အား ၎င်းတို့ကို ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်သည် မိမိကရုဏာတော်တွင်းသို့ ဝင်ရောက်စေတော်မူပေသည်။ ဤသည်ပင်လျှင် ထင်ရှားစွာသော အောင်မြင်မှု ဖြစ်ပေသည်။

وَاَمَّا الَّذِيْنَ كَفَرُوْا ۟ اَفَلَمْ تَكُنْ اٰيٰتِيْ تُتْلٰى عَلَيْكُمْ

၃၁။ သို့ရာတွင် သွေဖည်ငြင်းပယ်ကြကုန်သောသူတို့မှာမူကား (ဤသို့ပြောဆိုခြင်းကို ခံကြရပေမည်)။ ငါအရှင်မြတ်၏ အာယတ်တော်များသည် အသင်တို့ ရှေ့ဝယ် ဖတ်ကြားခြင်း ခံခဲ့ရသည် မဟုတ်လော။

---

① အလ္လာဟ်အရှင်မြတ်၏ မှတ်တမ်းတော်သည် သက်ဆိုင်ရာတို့အား အပိုအလိုမပါ၊ တိကျမှန်ကန်စွာ ဖော်ပြပေမည်။ အလ္လာဟ်အရှင်မြတ်သည် အလုံးစုံကို သိမြင်နိုင်စွမ်းရှိသော ဉာဏ်တော်ရှင် ဖြစ်တော်မူသည်။ အစအဆုံး အကြွင်းမဲ့သိတော်မူသည်။ ထိုအရှင်မြတ်အဖို့ကား လူသားတို့အား ကျိုးပြစ်ပေးတော်မူရန်အတွက် စစ်ဆေးနေတော်မူရန်ပင် မလိုပေ။ အစအဆုံး သိပြီးဖြစ်တော်မူသည်။ သို့တစေလည်း ဥပဒေစည်းကမ်းအရ အထောက်အထား ခိုင်လုံပြည့်စုံ ထင်ရှားစေရန်အလို့ငှာ ကောင်းကင်တမန်များအား ရေးမှတ်ထားစေတော်မူခဲ့သည်။ ကောင်းကင်တမန်များ၏ မှတ်တမ်းများသည် တစ်နည်းအားဖြင့် (မနိုင်းစကောင်း) ပုလိပ်မှတ်တမ်းမျိုးပင်။

فَاسْتَكْبَرْتُمْ وَكُنْتُمْ قَوْمًا مُّجْرِمِينَ ﴿٣١﴾

သို့တစေလည်း အသင်တို့သည် မာနထောင်လွှားခဲ့ကြကုန်၏။ ၎င်းပြင် အသင်တို့သည် ပြစ်မှုကျူးလွန်သူများပင် ဖြစ်ခဲ့ကြကုန်၏။ **(တစ်နည်း)** အမှန်သော်ကား အသင်တို့သည် ပြစ်မှုကျူးလွန်သူများပင် ဖြစ်ခဲ့ကြကုန်၏။

وَإِذَا قِيلَ إِنَّ وَعْدَ اللَّهِ حَقٌّ وَالسَّاعَةُ لَا رَيْبَ فِيهَا قُلْتُمْ مَّا نَدْرِي مَا السَّاعَةُ إِن نَّظُنُّ إِلَّا ظَنًّا وَمَا نَحْنُ بِمُسْتَيْقِنِينَ ﴿٣٢﴾

၃၂။ ထို့ပြင် ဧကန်မလွဲ အလ္လာဟ်အရှင်မြတ်၏ ချိန်းဆိုချက်သည် မှန်ကန်သည် ဟူ၍လည်းကောင်း၊ ရှင်ပြန်ထမည့် အချိန်ကာလနှင့်စပ်လျဉ်း၍ မည်သည့် ဒွိဟသံသယမျှပင် မရှိပြီဟူ၍လည်းကောင်း၊ ပြောဆိုခြင်းခံခဲ့ရလေသောအခါ အသင်တို့က "ရှင်ပြန်ထမည့် အချိန်ကာလသည် အဘယ်နည်းဟူ၍ ကျွန်ုပ်တို့သည် မသိကြပြီ။ ကျွန်ုပ်တို့၌ (ယင်းရှင်ပြန်ထမည့်အချိန်နှင့် စပ်လျဉ်း၍) ရမ်းဆတွေးထင်ခဲ့သော ထင်မြင်ယူဆချက် တစ်ခုသာလျှင်ရှိပေ၏။ သို့ရာတွင် ကျွန်ုပ်တို့သည် ယုံကြည်သူများ မဟုတ်ပေ" ဟု ပြောဆိုခဲ့ကြသည်။

وَبَدَا لَهُمْ سَيِّئَاتُ مَا عَمِلُوا وَحَاقَ بِهِم مَّا كَانُوا بِهِ يَسْتَهْزِءُونَ ﴿٣٣﴾

၃၃။ ၎င်းပြင် (ထိုနေ့တွင်) ၎င်းတို့ရှေ့ဝယ် ၎င်းတို့ ပြုမူခဲ့ကြကုန်သောမကောင်းမှုများ၏ ဆိုးယုတ်မှုများသည် ပေါ်လွင်၍ လာခဲ့ပေမည်။ ထို့ပြင် ၎င်းတို့ ပြက်ရယ်ပြောင်လှောင်ခဲ့ကြသော အရာများသည်လည်း ၎င်းတို့အား ဝန်းဝိုင်းလျက် ရှိပေမည်။

وَقِيلَ الْيَوْمَ نَنسَاكُمْ كَمَا نَسِيتُمْ لِقَاءَ يَوْمِكُمْ هَٰذَا وَمَأْوَاكُمُ النَّارُ وَمَا لَكُم مِّن نَّاصِرِينَ ﴿٣٤﴾

၃၄။ ထိုမှတစ်ပါး (၎င်းတို့သည် ဤသို့)ပြောဆိုခြင်း ခံရပေမည်။ အသင်တို့သည် မိမိတို့၏ ဤနေ့နှင့်တွေ့ဆုံခြင်းကို မေ့လျော့ခဲ့ကြသည့်နည်းတူ ငါ အရှင်မြတ်သည်လည်း ယနေ့ အသင်တို့အား မေ့လျော့တော်မူမည်။ ထို့ပြင် အသင်တို့၏ ခိုလှုံရာဌာနမှာ ငရဲမီးပင်ဖြစ်သည်။ ထိုမှတစ်ပါး အသင်တို့၌ ကူညီစောင်မအံ့သောသူများဟူ၍လည်း မရှိတော့ပြီ။

ذٰلِكُمْ بِاَنَّكُمُ اتَّخَذْتُمْ اٰيٰتِ اللّٰهِ هُزُوًا وَّغَرَّتْكُمُ الْحَيٰوةُ الدُّنْيَا ۚ فَالْيَوْمَ لَا يُخْرَجُوْنَ مِنْهَا وَلَا هُمْ يُسْتَعْتَبُوْنَ ﴿٣٥﴾

၃၅။ ထိုသို့ဖြစ်ရခြင်းမှာ အသင်တို့သည် အလ္လာဟ်အရှင်မြတ်၏ အာယတ်တော်များကို ပြက်ရယ်ပြောင်လှောင်ဖွယ်များ ပြုလုပ်ခဲ့ကြသောကြောင့်လည်းကောင်း၊ လောကီဘဝသည် အသင်တို့အား ဖြားယောင်းခဲ့သောကြောင့်လည်းကောင်း၊ ဖြစ်ပါသည်။ သို့ဖြစ်ပေရာ ယနေ့သော်ကား ၎င်းတို့သည် ယင်းငရဲမီးမှ ထွက်စေခြင်းကိုလည်း ခံကြရမည်မဟုတ်ပေ။ (အလ္လာဟ်အရှင်မြတ်အား) နှစ်သက်စေကြရန် တောင်းဆိုခြင်းကိုလည်း ခံကြရမည် မဟုတ်ချေ။

فَلِلّٰهِ الْحَمْدُ رَبِّ السَّمٰوٰتِ وَرَبِّ الْاَرْضِ رَبِّ الْعٰلَمِيْنَ ﴿٣٦﴾

၃၆။ စင်စစ်မှာကား ချီးမွမ်းထောပနာအပေါင်းတို့သည် မိုးကောင်းကင်များကို ဖန်ဆင်းတော်မူသောအရှင်၊ ကမ္ဘာမြေကို ဖန်ဆင်းတော်မူသောအရှင်၊ စကြာဝဠာခပ်သိမ်းတို့ကို ဖန်ဆင်းမွေးမြူတော်မူသောအရှင် ဖြစ်တော်မူသည့် အလ္လာဟ်အရှင်မြတ်နှင့်သာလျှင် ဆက်စပ်ပေသည်။

وَلَهُ الْكِبْرِيَآءُ فِى السَّمٰوٰتِ وَالْاَرْضِ ۖ وَهُوَ الْعَزِيْزُ الْحَكِيْمُ ﴿٣٧﴾

၃၇။ ထို့မှတစ်ပါး မိုးကောင်းကင်များ၌ လည်းကောင်း၊ ကမ္ဘာမြေ၌လည်းကောင်း၊ ထူးကဲကြီးမြတ်ခြင်းသည် ထိုအရှင်မြတ်၌သာရှိပေသည်။ ထို့မှတစ်ပါး ထိုအရှင်မြတ်သည်သာလျှင် လွန်စွာ နိုင်နင်းလွှမ်းမိုးတော်မူသောအရှင်၊ နက်နဲသိမ်မွေ့သော ဆင်ခြင်တုံတရားဖြင့် ပြည့်စုံတော်မူသောအရှင် ဖြစ်တော်မူပေသည်။

# သဲတောင်များကဏ္ဍ

سُوْرَةُ الْأَحْقَافِ

ဤကဏ္ဍသည် "အဟ်ကာဖ်" သဲတောင်များအကြောင်း ပါဝင်သောကဏ္ဍမည်၏။
မက္ကာမြို့တော်၌ ကျရောက်ခဲ့၏။ ဤကဏ္ဍတွင် အာယတ်တော် (၃၅)ပါး၊
ရကူအ် အပိုဒ်ပေါင်း(၄)ပိုဒ်၊ အသီးသီးပါရှိ၏။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ ○

အနန္တကရုဏာတော်ရှင် ဖြစ်တော်မူသော၊ အစဉ် သနားကြင်နာ ညှာတာတော်မူသော၊ အလ္လာဟ်အရှင်မြတ်၏ နာမံတော်ဖြင့် အစပြုပါ၏။

حٰمٓ ①

၁။ ဟာ၊ မီမ်။

تَنْزِيْلُ الْكِتٰبِ مِنَ اللّٰهِ الْعَزِيْزِ الْحَكِيْمِ ②

၂။ (ဤသည်) လွန်စွာနိုင်နင်းလွှမ်းမိုးတော်မူသော နက်နဲသိမ်မွေ့သော ဆင်ခြင်တုံတရားနှင့် ပြည့်စုံတော်မူသော အလ္လာဟ်အရှင်မြတ်အထံတော်မှ ချပေးသနားတော်မူသော ကျမ်းဂန်ပင်ဖြစ်၏။

مَا خَلَقْنَا السَّمٰوٰتِ وَالْاَرْضَ وَمَا بَيْنَهُمَآ اِلَّا بِالْحَقِّ وَاَجَلٍ مُّسَمًّى ۗ وَالَّذِيْنَ كَفَرُوْا عَمَّآ اُنْذِرُوْا مُعْرِضُوْنَ ③

၃။ ငါအရှင်မြတ်သည် မိုးကောင်းကင်များကို လည်းကောင်း၊ ကမ္ဘာမြေကိုလည်းကောင်း၊ ယင်းမိုးကောင်းကင်များနှင့်ကမ္ဘာမြေ နှစ်ခု၏အကြားတွင် ရှိသမျှတို့ကိုလည်းကောင်း၊ နက်နဲသိမ်မွေ့သော ဆင်ခြင်တုံတရားနှင့် လျော်ညီစွာ ဖန်ဆင်းတော်မူခဲ့သည့်အပြင် အချိန်ကာလတစ်ခု သတ်မှတ်ပိုင်းခြား၍ ဖန်ဆင်းတော်မူခဲ့၏။ သို့တစေလည်း သွေဖည်ငြင်းပယ်သောသူတို့မှာမူ မိမိတို့ သတိပေးနှိုးဆော်ခြင်း ခံကြရသည်များမှ မျက်နှာလွှဲလျက်ပင် ရှိကြကုန်၏။

قُلْ اَرَءَيْتُمْ مَّا تَدْعُوْنَ مِنْ دُوْنِ اللّٰهِ اَرُوْنِىْ مَاذَا خَلَقُوْا مِنَ الْاَرْضِ

၄။ (အို-နဗီတမန်တော်၊) အသင်သည် ၎င်းတို့အား (ဤသို့)ပြောကြားပါလေ။ (အချင်းတို့၊) အသင်တို့သည် ပြောပြကြလေကုန်။ အလ္လာဟ်အရှင်မြတ်မှ တစ်ပါး အသင်တို့ ဟစ်ခေါ်တသကြသော အရာ

اَمْ لَهُمْ شِرْكٌ فِي السَّمٰوٰتِ ۗ اِيْتُوْنِيْ بِكِتٰبٍ مِّنْ قَبْلِ هٰذَآ اَوْ اَثٰرَةٍ مِّنْ عِلْمٍ اِنْ كُنْتُمْ صٰدِقِيْنَ ٤

များသည် မည်သည့်မြေကို ဖန်ဆင်းခဲ့ကြသည်ကို၊ သို့တည်းမဟုတ် ၎င်းတို့အဖို့ မိုးကောင်းကင်များ၌ ဖက်စပ်ပါဝင်ခြင်းရှိသည်ကို ငါ့အား အသင်တို့ ပြကြလေကုန်။

အသင်တို့သည် သစ္စာဝါဒီများဖြစ်ကြလျှင် ဤကျမ်းဂန်၏အလျှင် ကျရောက်ခဲ့သော ကျမ်းဂန် တစ်စုံတစ်ရာကိုသော်လည်းကောင်း၊ (ရှေးအဆက်ဆက်မှ လာရှိသော) အသိပညာမှ အရပ်အမြွက်ပြသော အကြောင်းအချက် တစ်စုံတစ်ရာကိုသော်လည်းကောင်း၊ ငါ့ထံ ယူခဲ့ကြလေကုန်။

وَمَنْ اَضَلُّ مِمَّنْ يَّدْعُوْا مِنْ دُوْنِ اللّٰهِ مَنْ لَّا يَسْتَجِيْبُ لَهٗٓ اِلٰى يَوْمِ الْقِيٰمَةِ وَهُمْ عَنْ دُعَآئِهِمْ غٰفِلُوْنَ ٥

၅။ စင်စစ်သော်ကား အလ္လာဟ်အရှင်မြတ်အပြင် အခြားသူများကို ဟစ်ခေါ်သောသူထက် ပို၍ လမ်းမှားသောသူ မည်သူရှိအံ့နည်း။ ၎င်းတို့သည် ထိုသူ၏ စကားကို 'ကိယာမတ်' ရှင်ပြန်ထမည့်နေ့တိုင်အောင် ဖြေကြားကြမည် မဟုတ်သည်သာမက ၎င်းတို့မှာ ဤသူတို့၏ဟစ်ခေါ်ခြင်းကိုပင် သိကြရှာသူများမဟုတ်ပြီ။

وَاِذَا حُشِرَ النَّاسُ كَانُوْا لَهُمْ اَعْدَآءً وَّكَانُوْا بِعِبَادَتِهِمْ كٰفِرِيْنَ ٦

၆။ ထိုမှတပါး လူတို့သည် စုရုံးခြင်းခံကြရသော အခါ ၎င်းတို့မှာ ထိုသူတို့၏ရန်သူများပင် ဖြစ်သွားကြပေမည်။ ထိုမှတပါး ၎င်းတို့သည် ထိုသူတို့၏ ဆည်းကပ် ကိုးကွယ်မှုကိုပင် ငြင်းပယ်ကြပေမည်။

وَاِذَا تُتْلٰى عَلَيْهِمْ اٰيٰتُنَا بَيِّنٰتٍ قَالَ الَّذِيْنَ كَفَرُوْا لِلْحَقِّ لَمَّا جَآءَهُمْ ۙ هٰذَا سِحْرٌ مُّبِيْنٌ ۗ ٧

၇။ ထို့ပြင် ၎င်းတို့၏ရှေ့ဝယ် ငါအရှင်မြတ်၏ ထင်ရှားစွာသော အာယတ်တော်များ ဖတ်ကြားခြင်း ခံရလေသောအခါ သွေဖည်ငြင်းပယ်သောသူတို့က အမှန်တရားတည်းဟူသော (ကုရ်အာန်ကျမ်းတော်)နှင့် စပ်လျဉ်း၍ ယင်းအမှန်တရားသည် ၎င်းတို့ထံ ရောက်လာသောအခါ ဤသည် ထင်ရှားစွာသောပဉ္စလက် အတတ်ပညာ ဖြစ်သည်ဟူ၍ ပြောဆိုကြကုန်၏။

أَمْ يَقُولُونَ افْتَرَاهُ ۖ قُلْ
إِنِ افْتَرَيْتُهُ فَلَا تَمْلِكُونَ
لِي مِنَ اللَّهِ شَيْئًا ۖ هُوَ أَعْلَمُ
بِمَا تُفِيضُونَ فِيهِ ۖ كَفَىٰ بِهِ
شَهِيدًا بَيْنِي وَبَيْنَكُمْ ۖ
وَهُوَ الْغَفُورُ الرَّحِيمُ ⑧

၈။ ၎င်းတို့က ဤသူ(မုဟမ္မဒ်)သည် ထိုကုရ်အာန်ကျမ်းတော်မြတ်ကို ကြံစည်ဖန်တီးထားသည်ဟု ပြောဆိုကြလေသလော။ (သို့ဖြစ်လျှင် အို-နဗီတမန်တော်၊) အသင်သည် (၎င်းတို့အား ဤသို့)ပြောကြားပါလေ။ (အချင်းတို့၊) အကယ်၍ ငါသည် ယင်းကုရ်အာန်ကျမ်းတော်မြတ်ကို ကြံစည်ဖန်တီးထားပါလျှင် အသင်တို့သည် အလ္လာဟ်အရှင်မြတ်နှင့်ဆန့်ကျင်၍ ငါ့အား လုံးဝကယ်နိုင်ကြသည် မရှိချေ။ယင်းကုရ်အာန်ကျမ်းတော်မြတ်နှင့်စပ်လျဉ်း၍ အသင်တို့ ပြောဆိုလျက်ရှိကြသည်တို့ကို ထိုအရှင်မြတ်သည် အသိဆုံးပင် ဖြစ်တော်မူ၏။ ထိုအရှင်မြတ်သည်ပင် အသင်တို့နှင့်ငါ၏အကြားဝယ် လုံလောက်သောသက်သေဖြစ်တော်မူ၏။ သက်သေအဖြစ် လုံလောက်တော်မူ၏။ ၎င်းပြင် ထိုအရှင်မြတ်သည် အလွန်တရာ ခွင့်လွှတ်ချမ်းသာပေးတော်မူသောအရှင်၊ အလွန်တရာ သနားကြင်နာညှာတာတော်မူသောအရှင်၊ ဖြစ်တော်မူ၏။

قُلْ مَا كُنْتُ بِدْعًا مِنَ الرُّسُلِ
وَمَا أَدْرِي مَا يُفْعَلُ بِي وَلَا بِكُمْ ۖ
إِنْ أَتَّبِعُ إِلَّا مَا يُوحَىٰ إِلَيَّ وَمَا
أَنَا إِلَّا نَذِيرٌ مُبِينٌ ⑨

၉။ (အို-နဗီတမန်တော်၊) အသင်သည် ပြောကြားပါလေ။ (အချင်းတို့၊) ငါသည် ရစူလ်တမန်တော်တို့အနက် အသစ်အဆန်းမဟုတ်ပြီ။ ထို့ပြင် ငါသည် မိမိနှင့်ပတ်သက်၍လည်းကောင်း၊ အသင်တို့နှင့်ပတ်သက်၍လည်းကောင်း၊ မည်သို့ ပြုလုပ်ခြင်းခံရမည်ကို သိရှိသည်မဟုတ်ပြီ။ ငါသည် မိမိထံ ထုတ်ပြန်ခြင်းခံရလေသော 'ဝဟ်ယ်' အမိန့်တော်ကိုသာလျှင် လိုက်နာ၏။ ထိုမှတပါး ငါသည် ရှင်းလင်းထင်ရှားစွာ သတိပေးနှိုးဆော်သူတစ်ဦးမှအပ အခြားမဟုတ်ပြီ။ [၁]

[၁] ဆိုလိုသည်ကား တမန်တော်မြတ်က ပြောကြားခဲ့သည်မှာ အချင်းတို့-ကျွန်ုပ်ကား တမန်တော်အသစ်အဆန်းမဟုတ်၊ တရားသစ် တရားဆန်းကို ယူဆောင်လာသည်လည်းမဟုတ်၊အတိတ်ကာလများ၌ ကမ္ဘာတစ်ခွင်တွင် တမန်တော်အမြောက်အမြား ပွင့်ခဲ့ကြချေပြီ။ ထိုထိုသောတမန်တော်များ ဟောကြားတော်မူခဲ့ကြကုန်သော ➤➤

قُلْ أَرَءَيْتُمْ إِن كَانَ مِنْ عِندِ ٱللَّهِ وَكَفَرْتُم بِهِۦ وَشَهِدَ شَاهِدٌ مِّنۢ بَنِىٓ إِسْرَٰٓءِيلَ عَلَىٰ مِثْلِهِۦ فَـَٔامَنَ وَٱسْتَكْبَرْتُمْ ۖ إِنَّ ٱللَّهَ لَا يَهْدِى ٱلْقَوْمَ ٱلظَّٰلِمِينَ ﴿١٠﴾

၁၀။ (အို-နဗီတမန်တော်၊) အသင်သည် ပြောကြားပါလေ။ (အချင်းတို့၊) အသင်တို့သည် ငါ့အား ပြောပြကြလေကုန်။ အကယ်၍ ဤကုရ်အာန်ကျမ်းတော်မြတ်သည် အလ္လာဟ်အရှင်မြတ် အထံတော်မှ (ထုတ်ပြန်သော) ကျမ်းဂန်ဖြစ်အံ့။ သို့ရာတွင် အသင်တို့သည် ယင်း ကုရ်အာန်ကျမ်းတော်မြတ်ကို ငြင်းပယ်လျက်ရှိအံ့။ (သို့ဖြစ်လျှင် အသင်တို့၏ အခြေအနေသည် မည်သို့ဖြစ်အံ့နည်း။) အမှန်စင်စစ်သော်ကား ယင်း ကုရ်အာန်ကျမ်းတော်ကဲ့သို့သောကျမ်းဂန်(တောင်ရာတ်)ကို အီစ်ရာအီလီ အမျိုးသားတို့အနက် သက်သေတစ်ဦးသည် သက်သေခံခဲ့ပြီးနောက် သက်ဝင်ယုံကြည်ခဲ့ပြီးဖြစ်၏။ သို့ပါလျက် အသင်တို့မှာမူကား (သက်ဝင်ယုံကြည်ကြသည်မရှိ၊) မောက်မာ၍သာ နေခဲ့ကြကုန်၏။ ကေန်အမှန် အလ္လာဟ်အရှင်မြတ်သည် မတရားသောသူတို့အား တရားလမ်းမှန်သို့ ပို့ပေးတော်မူသည် မဟုတ်ပေ။

وَقَالَ ٱلَّذِينَ كَفَرُوا۟ لِلَّذِينَ ءَامَنُوا۟ لَوْ كَانَ خَيْرًا مَّا سَبَقُونَآ إِلَيْهِ ۚ

၁၁။ စင်စစ်သော်ကား သွေဖည်ငြင်းပယ်သောသူတို့သည် 'မုအ်မင်န်' သက်ဝင် ယုံကြည်သောသူတို့နှင့် ပတ်သက်၍ (ဤသို့)ပြောဆိုကြကုန်၏။ အကယ်၍ ထိုကုရ်အာန်သည် ကောင်းမြတ်သော အရာတစ်စုံတစ်ခု

➤➤ တရားကိုပင် ကျွန်ုပ် ဟောပြောနေခြင်း ဖြစ်သည်။

အလ္လာဟ်အရှင်မြတ်သည် ကျွန်ုပ်အား တမန်တော်အပေါင်းတွင် နောက်ဆုံးတမန်တော်အဖြစ် စေလွှတ်တော်မူခြင်းဖြစ်သည်။ ဤသည့်အကြောင်းကိုလည်း ပွင့်လေသမျှသော တမန်တော်အပေါင်းသည် အသီးသီး ဗျာဒိတ်ပေးသွားခဲ့ကြသည်။ ကျွန်ုပ်မည်သို့ ပြုမူခြင်းခံရမည်ကိုလည်း ကျွန်ုပ်မသိ၊ အသင်တို့ မည်သို့ပြုမူခြင်းခံကြရမည်ကိုလည်း ကျွန်ုပ်မသိ။ ကျွန်ုပ်သည် အသင်တို့ကဲ့သို့ လူသားတစ်ဦးမျှသာ ဖြစ်သည်။ ထူးခြားချက်တစ်ရပ်မှာ အလ္လာဟ်အရှင်မြတ်သည် ကျွန်ုပ်ထံသို့ (ဝဟ်ယ်) အမိန့်တော်များကို ထုတ်ပြန်ချမှတ်ပေးတော်မူသည်။ ကျွန်ုပ်သည် ထိုသည့်အမိန့်တော်များကို ဦးလည်မသုန် နာယူကျင့်မူသည်။ ထိုသည့်အမိန့်တော်များအရ ကျွန်ုပ်သည် အသင်တို့အား အထင်အရှား သတိပေး နှိုးဆော်သည်။ သို့ပါလျက် အသင်တို့သည် ကျွန်ုပ်၏ တရားများကို နာယူကျင့်မူရာတွင် အဘယ်ကြောင့် ရွံ့တွန့်ဆုတ်ဆိုင်းနေကြသနည်း။

وَإِذْ لَمْ يَهْتَدُوا بِهِ فَسَيَقُولُونَ
هَٰذَا إِفْكٌ قَدِيمٌ ﴿١١﴾

ဖြစ်ခဲ့မူ ထို 'မုအ်မင်န်' သက်ဝင်ယုံကြည်သူတို့မှာ ငါတို့ထက်ဦးစွာ ယင်းကုရ်အာန်ကို သက်ဝင်ယုံကြည်နိုင်ကြမည်မဟုတ်ပေ။ တစ်ဖန် ၎င်းတို့သည် ယင်းကုရ်အာန်ကျမ်းတော်မြတ်ဖြင့် တရားလမ်းမှန်ကို မရခဲ့ကြသောအခါ ၎င်းတို့က ဤသည် ရှေးဟောင်းမုသားပင် ဖြစ်သည်ဟူ၍ ပြောဆိုကြကုန်၏။

وَمِن قَبْلِهِ كِتَابُ مُوسَىٰ إِمَامًا
وَرَحْمَةً ۚ وَهَٰذَا كِتَابٌ مُّصَدِّقٌ
لِّسَانًا عَرَبِيًّا لِّيُنذِرَ الَّذِينَ
ظَلَمُوا وَبُشْرَىٰ لِلْمُحْسِنِينَ ﴿١٢﴾

၁၂။ အမှန်စင်စစ်မှာမူကား ဤကုရ်အာန်ကျမ်းတော်မြတ်အလျင် *မူစာ၏ကျမ်းဂန် (တော်ရာတ်)သည် ရှေ့ဆောင်လမ်းပြအဖြစ်လည်းကောင်း၊ ကရုဏာအဖြစ်လည်းကောင်း၊ ရှိခဲ့၏။* [၁] ထို့ပြင် ဤကျမ်းဂန်မှာ (ယင်းတော်ရာတ်ကျမ်းကို) ထောက်ခံသော ကျမ်းဂန်ဖြစ်၏။ မတရားကျူးလွန်သော (မက္ကာမြို့သား)တို့အား သတိပေးနှိုးဆော်ရန် အရဗီဘာသာစကားဖြင့် ထုတ်ပြန်ထား၏။ ၎င်းပြင် ကောင်းမှုပြုသူတို့အဖို့ သတင်းကောင်းလည်းဖြစ်၏။ [၂]

إِنَّ الَّذِينَ قَالُوا رَبُّنَا اللَّهُ ثُمَّ
اسْتَقَامُوا فَلَا خَوْفٌ عَلَيْهِمْ
وَلَا هُمْ يَحْزَنُونَ ﴿١٣﴾

၁၃။ ဧကန်မလွဲ ကျွန်တော်မျိုးတို့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်မှာ အလ္လာဟ်အရှင်မြတ်ပင် ဖြစ်တော်မူသည်ဟု ပြောကြပြီးနောက် (ယင်းယုံကြည်ချက်ပေါ်ဝယ်) ကြံ့ခိုင်စွာ တည်ရှိကြကုန်သော သူတို့၌ မည်သည့်စိုးရိမ်မှုလည်း ရှိလိမ့်မည်မဟုတ်ပေ။ ထိုမှတပါး ၎င်းတို့သည် ပူပင်သောကဖြစ်ကြရမည်လည်း မဟုတ်ပေ။

---

(၁) ဆိုလိုသည်ကား ယနေ့ကုရ်အာန်က တင်ပြနေသော အခြေခံသဘောတရားများသည် အသစ်အဆန်းမဟုတ်။ ကုရ်အာန်မကျရောက်မီ နှစ်ပရိစ္ဆေဒ ထောင်ပေါင်းများစွာ အလျင်ကပင် တမန်တော် မူစာချီးမြှင့်တော်မူခြင်းခံခဲ့ရသော တော်ရာတ်ကျမ်းသည် ယင်းသည့်အခြေခံသဘောတရားများကို တင်ပြခဲ့ပေသည်။ တော်ရာတ်ကျမ်းသည် မိမိ၏ ဒေသနာတော်ဗျာဒိတ်တော်များဖြင့် အမှန်တရားကို ညွှန်ပြခဲ့သည်သာမက၊ ကရုဏာတော်တည်းဟူသော တံခါးကိုလည်း ဖွင့်ပေးခဲ့ပေသည်။

(၂) ဆိုလိုသည်ကား ဤကုရ်အာန်ကျမ်းမြတ်သည် အဆိုပါ တော်ရာတ်ကျမ်းလာ ဒေသနာတော်များနှင့် ➤➤

၁၄။ ထိုသူတို့မှာ 'ဂျန္နတ်'သုခ ဘုံသားများပင် ဖြစ်ကြကုန်၏။ ယင်းသုခဘုံ၌ အမြဲထာဝစဉ် နေထိုင်ကြရပေမည်။ (ဤသည်) ၎င်းတို့ကျင့်မှုခဲ့ကြသော အကျင့်အမှုတို့၏ အစားပေးခြင်းပင် ဖြစ်ပေသတည်း။

أُولَٰئِكَ أَصْحَابُ الْجَنَّةِ خَالِدِينَ فِيهَا جَزَاءً بِمَا كَانُوا يَعْمَلُونَ ﴿١٤﴾

၁၅။ စင်စစ်သော်ကား ငါအရှင်မြတ်သည် 'မန္နုဿ' လူသားအား ၎င်း၏မိဘနှစ်ပါးနှင့်ပတ်သက်၍ ကောင်းစွာပြုစုရန် လေးနက်စွာအမိန့်ပေးတော်မူခဲ့၏။ ၎င်း၏မိခင်မှာ ၎င်းအား ဆင်းရဲဒုက္ခ ပင်ပန်းကြီးစွာနှင့် (မိမိဝမ်းတွင်းဝယ်) သယ်ပိုးလွယ်ပိုက်ခဲ့၏။ ထို့ပြင် ဆင်းရဲဒုက္ခ *ပင်ပန်းကြီးစွာနှင့်ပင် ၎င်းအားမွေးဖွားခဲ့၏။* [၁] ထို့ပြင် ၎င်းအား သယ်ပိုးလွယ်ပိုက်ခြင်းနှင့် ၎င်းအားနို့ဖြတ်ခြင်း(၏ အချိန်ကာလမှာ) လပေါင်း သုံးဆယ်ဖြစ်၏။ နောက်ဆုံးတွင် ထိုလူသားသည် မိမိ အရွယ်ရောက် လူလားမြောက်ခြင်းသို့ ရောက်ရှိ၍ အနှစ်လေးဆယ် (အရွယ်)သို့ရောက်လေသောအခါ (ဤသို့) ပန်ကြားလျှောက်ထားလေ၏။ [၂]

وَوَصَّيْنَا الْإِنْسَانَ بِوَالِدَيْهِ إِحْسَانًا ۖ حَمَلَتْهُ أُمُّهُ كُرْهًا وَوَضَعَتْهُ كُرْهًا ۖ وَحَمْلُهُ وَفِصَالُهُ ثَلَاثُونَ شَهْرًا ۚ حَتَّىٰ إِذَا بَلَغَ أَشُدَّهُ وَبَلَغَ أَرْبَعِينَ سَنَةً

---

➤➤ ဗျာဒိတ်တော်များကို ထောက်ခံလျက်၊ သရုပ်ဖော်လျက်ရှိသည်။ တောင်ရာတ်နှင့် ကုရ်အာန်သည် အညမညဖြစ်သည်။ တောင်ရာတ်နှင့် ကုရ်အာန်သည် အညမည ဖြစ်သည်။ ကောင်းကင်ကျ ကျမ်းဂန်အားလုံးသည် ဤအတိုင်းပင်။ ကုရ်အာန်သည် စည်းကမ်းကျူးလွန်နေသူများအား သတိပေးသည်။ သူတော်ကောင်းများအား ကောင်းချီးသတင်းပေးသည်။

(၁) သားသမီးများအား လူလားမြောက်သည်အထိ ပြုစုပျိုးထောင်ပေးကြသော မိဘနှစ်ပါး၏ ကျေးဇူးကားကြီးမားလှပေသည်။ မိဘနှစ်ပါးတွင် မိခင်ဖြစ်သူသည် ကိုယ်ဝန်ဆောင်သည့်အချိန်မှစ၍ သားငယ်အား ပင်ပန်းကြီးစွာဖြင့် လပေါင်းများစွာ လွယ်ပိုး သယ်ပိုက်ထားခဲ့ရရှာသည်။ ပင်ပန်းကြီးစွာဖြင့်ပင် ဖွားမြင်ခဲ့ရရှာသည်။ ပင်ပန်းကြီးစွာဖြင့် ဖွားမြင်ပြီးပြန်သော် ဖဝါးလက်နှစ်လုံး ပခုံးလက် နှစ်သစ် ဘဝကစ၍ လပေါင်းများစွာ ယုယပိုက်ထွေး နို့ချိုတိုက်ကျွေးခဲ့ရရှာသည်။ သားငယ်အား ကိုယ်စွမ်းရှိသမျှ ဉာဏ်စွမ်းရှိသမျှပြုစုခဲ့ရှာသည်။ သားငယ်အတွက် မိမိ၏ချမ်းသာမှုအစုစုကို စွန့်ခဲ့ရှာသည်။ ဒုက္ခအဝဝကို ပျော်ရွှင်စွာ ခံခဲ့ရှာသည်။

မိခင်သည် ကျန်သံယောဇဉ်အားလုံးကို ဖြတ်နိုင်သော်လည်း သားသမီးသံယောဇဉ်ကိုမူ မဖြတ်နိုင်ရှာပေ။ ထို့အတွက် သားသမီးများသည် မိဘနှစ်ပါး၏ကျေးဇူးကို အထူးသိကြရသည်။ မိဘနှစ်ပါးအား အထူးရိုသေလေးစားကြရသည်။ အသက်ထက်ဆုံး ကောင်းစွာ ပြုစုကြရသည်။ ➤➤

قَالَ رَبِّ أَوْزِعْنِيٓ أَنْ أَشْكُرَ نِعْمَتَكَ الَّتِيٓ أَنْعَمْتَ عَلَيَّ وَعَلَىٰ وَالِدَيَّ وَأَنْ أَعْمَلَ صَالِحًا تَرْضَاهُ وَأَصْلِحْ لِي فِي ذُرِّيَّتِيٓ إِنِّي تُبْتُ إِلَيْكَ وَإِنِّي مِنَ الْمُسْلِمِينَ ﴿١٥﴾

အို-ကျွန်တော်မျိုးအား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်၊ အရှင်မြတ်သည် ကျွန်တော်မျိုးအပေါ်၌လည်းကောင်း၊ ကျွန်တော်မျိုး၏မိဘနှစ်ပါးအပေါ်၌လည်းကောင်း၊ မိမိပြုတော်မူခဲ့သောကျေးဇူးတော်နှင့်စပ်လျဉ်း၍ ကျွန်တော်မျိုးအား အမြဲတစေကျေးဇူးသိတတ်စေတော်မူပါ။ ၎င်းပြင် မိမိနှစ်သက်တော်မူသော ကောင်းမှုများကို ကျွန်တော်မျိုးအား အမြဲကျင့်မှုနိုင်စွမ်း ပေးသနားတော်မူပါ။ ထိုမှတပါး အရှင်မြတ်သည် ကျွန်တော်မျိုးအဖို့ ကျွန်တော်မျိုး၏ သားမြေးတို့၌လည်း အကျိုးဖြစ်စေတော်မူပါ။ (အရည်အချင်းဖန်တီးပေးတော်မူပါ။) ကေန်အမှန် ကျွန်တော်မျိုးသည် အရှင်မြတ်အထံတော်၌ ဝန်ချတောင်းပန်ပါ၏။ ၎င်းပြင် ကေန်မလွဲ ကျွန်တော်မျိုးသည် အလ္လာဟ်အမိန့်တော်ကို လိုက်နာသူတို့တွင် တစ်ဦးအပါအဝင်ဖြစ်ပါ၏။ ၁

---

➤➤ တစ်ဖန် မိဘနှစ်ပါးတွင် မိခင်ဖြစ်သူသည် ဖခင်နှင့်စာလျှင် အစစအရာရာတွင် ပျော့ပျောင်းနွဲ့နှောင်း၍ ချို့တဲ့ရာသည်ဖြစ်ရာ၊ သားသမီးများသည် မိခင်အား ပို၍ပင် သနားကြင်နာထောက်ထားကြရာသည်။ တမန်တော်မြတ်ကလည်း အောက်ပါအတိုင်း မိန့်မှာတော်မူခဲ့လေသည်။

သာဝကကြီး အဗူဟုရိုင်ရဟ်သခင်ထံမှ တစ်ဆင့်ကြားသိရသည်မှာ တပည့်သားတစ်ဦးသည် တမန်တော်မြတ်ထံ လာရောက်၍ တမန်တော်မြတ်မည်သူ့အား ပို၍ပြုစုရပါမည်နည်းဟုလျှောက်ထားရာ တမန်တော်မြတ်က 'သင့်မိခင်' ဟု ဖြေကြားတော်မူခဲ့၏။ ထိုတပည့်သားက ထို့နောက် မည်သူ့အား ပြုစုရပါမည်နည်းဟု မေးလျှောက်ပြန်ရာ တမန်တော်မြတ်က 'သင့်မိခင်'ဟု ဖြေကြားတော်မူခဲ့၏။ တပည့်သားက ထို့နောက် မည်သူ့အား ပြုစုရပါမည်နည်းဟု လျှောက်ထားပြန်ရာ၊ တမန်တော်မြတ်က 'သင့်မိခင်' ဟုပင် ဖြေကြားတော်မူခဲ့၏။ ထိုတပည့်သားက ထို့နောက် မည်သူ့အား ပြုစုရပါမည်နည်းဟု လျှောက်ထားပြန်ရာ၊ တမန်တော်မြတ်က သင့်ဖခင်ဟု ဖြေကြားတော်မူခဲ့၏။ (ဗုခါရီ၊ မွတ်စ်လင်မ်)

(၂) လူသားတို့သည် များသောအားဖြင့် အသက် (၄၀) ရွယ်တွင် အသိဉာဏ် အမြော်အမြင်အတွေးအခေါ်၌ ပြည့်ဝစုံလင်လေ့ရှိကြပေသည်။ ထို့အတွက်ကြောင့် တမန်တော်များသည် သက်တော် (၄၀) အလျင် တမန်တော်အဖြစ် စေလွှတ်တော်မူခြင်းကို ခံခဲ့ကြရသည် မရှိပေ။

(၁) အသက်(၄၀)ရွယ်သို့ ရောက်ကြပြီးနောက် အလ္လာဟ်အရှင်မြတ်၏ကျေးဇူးတော်ဖြင့် အခြေအနေ အဆင်ပြေသော အကြောင်းလုပ်သောသူတော်စင်သည် အလ္လာဟ်အရှင်မြတ်ထံတော်၌ အရှင်မြတ် ကျွန်တော်မျိုးအပေါ်၌ ➤➤

أُولَٰٓئِكَ الَّذِينَ نَتَقَبَّلُ عَنْهُمْ أَحْسَنَ مَا عَمِلُوا وَنَتَجَاوَزُ عَن سَيِّـَٔاتِهِمْ فِىٓ أَصْحَٰبِ الْجَنَّةِ ۖ وَعْدَ الصِّدْقِ الَّذِى كَانُوا يُوعَدُونَ ⑯

၁၆။ ထိုသူတို့သည်ပင် အကြင်သူများ ဖြစ်ကြကုန်၏။ ငါအရှင်မြတ်သည် ၎င်းတို့ထံမှ ၎င်းတို့၏ ကောင်းမြတ်လှသော ကျင့်မှုချက်များကို သဘောတူ လက်ခံတော်မူပေမည်။ ထိုမှတပါး ငါအရှင်မြတ်သည် ၎င်းတို့၏ပြစ်မှုများကို (အရေးမယူ) လျစ်လျူရှုတော်မူပေမည်။ (၎င်းတို့မှာ) 'ဂျန္နတ်' သုခဘုံသားတို့တွင် အပါအဝင် ဖြစ်ကြပေမည်။ (ဤသည်) ၎င်းတို့ကတိပေးခြင်းခံခဲ့ကြရသော မှန်ကန်သော ကတိပြုချက်ပင် ဖြစ်ချေသတည်း။

---

➤➤ လည်းကောင်း၊ ကျွန်တော်မျိုး၏ မိဘနှစ်ပါးအပေါ်၌လည်းကောင်း၊ အရှင်မြတ် ပြုထားတော်မူသော ကျေးဇူးတော်များကို အမြဲတစေ၊ တုံ့ပြန်ကျေးဇူးတင်နိုင်ရန်နှင့် အရှင်မြတ် နှစ်သက်တော်မူသော အကျင့်သီလများကို အမြဲတစေ ဆောက်တည်နိုင်ရန် အရှင်မြတ်သည်ပင်၊ ကျွန်တော်မျိုးအား စွမ်းအားပေးသနားတော်မူပါ။ မိမိ၏ သားသမီးများကို ကောင်းစွာ သွန်သင်ပဲ့ပြင်ပေးနိုင်သည့် အရည်အချင်းကိုလည်း၊ ပေးသနားတော်မူပါ။

ကျွန်တော်မျိုးသည် မိမိ၏ မှားယွင်းမှု ချို့တဲ့မှုများနှင့် စပ်လျဉ်း၍လည်း အရှင်မြတ်ထံတော်၌ ဝန်ချတောင်းပန် အသနားခံပါသည်။ ကျွန်တော်မျိုးသည် အမိန့်တော်နာခံသော မွတ်စ်လင်မ်တစ်ဦးဖြစ်ပါသည်ဟု ကျိုးနွံစွာ ဆုပန်ကြားလေ့ရှိသည်။ ဤကား အကြောင်းလှသော သူတော်စင်များ၏ ဂုဏ်ရည်များပင်။

ဆွဟာဗဟ် သာဝကကြီးများတွင် အဗူဗတ်ကရ်၏ ထူးခြားချက်တစ်ရပ်မှာ သာဝကကြီးကိုယ်တိုင်လည်း အစ္စလာမ်ကို သက်ဝင်ယုံကြည်ခဲ့သည်။ သာဝကကြီး အဗူဗတ်ကရ်၏ မိဘနှစ်ပါးတို့သည်လည်း အစ္စလာမ်ကို သက်ဝင်ယုံကြည်ခဲ့ကြပေသည်။ သာဝကကြီး အဗူဗတ်ကရ်၏ သားသမီးများသည်လည်း အစ္စလာမ်ကို သက်ဝင်ယုံကြည်ခဲ့ကြပေသည်။

ထို့ပြင်တစ်ဝ သာဝကကြီး အဗူဗတ်ကရ်၊ သာဝကကြီး အဗူဗတ်ကရ်၏ မိဘနှစ်ပါးနှင့် သားသမီးများသည် အစ္စလာမ်ကို သက်ဝင် ယုံကြည်ခဲ့ကြသည်သာမက၊ တမန်တော်မြတ်၏ တပည့်သား 'ဆွဟာဗီ'များ ဖြစ်ရသည့် အခွင့်ထူးကိုလည်း ရရှိခဲ့ကြပေသည်။ တမန်တော်မြတ်၏ တပည့်သာဝက လောကတွင် ဤသည့် အခွင့်အလမ်းကို သာဝကကြီး အဗူဗတ်ကရ်တစ်ပါးသာလျှင် ထူးထူးခြားခြား ရရှိခဲ့ပေသည်။

အလ္လာဟ်အရှင်မြတ်သည် ထိုသို့သော သူတော်စင်များ၏ ကုသိုလ် ကောင်းမှုများကို လက်ခံတော်မူသည်။ ၎င်းတို့၏ မေ့မှားမှုများကိုလည်း ခွင့်လွှတ်တော်မူသည်။ ထိုသို့သော သူတော်စင်များသည် ဂျန္နတ်၏ အမတသုခများကို အမြဲထာဝစဉ် ခံစားကြရမည်ဖြစ်သည်။ ဤကား ဤပစ္စက္ခတွင် လူသားတို့အား ကတိပြုထားတော်မူသည့် မှန်ကန်သော ကတိတော်၏ အကျိုးဆက်ပင်။

وَالَّذِي قَالَ لِوَالِدَيْهِ أُفٍّ
لَّكُمَا أَتَعِدَانِنِي أَنْ أُخْرَجَ
وَقَدْ خَلَتِ الْقُرُونُ مِن قَبْلِي
وَهُمَا يَسْتَغِيثَانِ اللَّهَ وَيْلَكَ آمِنْ
إِنَّ وَعْدَ اللَّهِ حَقٌّ فَيَقُولُ
مَا هَٰذَا إِلَّا أَسَاطِيرُ الْأَوَّلِينَ ﴿١٧﴾

၁၇။ ၎င်းပြင် အကြင်သူသည် မိမိ၏ မိဘနှစ်ပါးအား (ဤသို့)ပြောဆိုခဲ့၏။ 'အသင်တို့နှစ်ဦးအဖို့ ရက်ဖွယ်ပင် ကောင်းလှ၏။ အသင်တို့နှစ်ဦးသည် ကျွန်ုပ်အား (သင်္ချိုင်းထဲမှ) ကျွန်ုပ် ပြန်ထွက်စေခြင်းကို ခံရမည်ဟု ခြိမ်းခြောက်ကြလေသလော။ အမှန်စင်စစ်မှာမူကား၊ ကျွန်ုပ်၏အလျင် (မြောက်မြားစွာသော) လူမျိုးဆက်တို့သည် လွန်လေခဲ့လေပြီ'၊ [၁]

သို့တစေလည်း ထိုမိဘနှစ်ပါးတို့မှာ အလ္လာဟ်အရှင်မြတ်အထံတော်၌ ဟစ်အော်ငိုကြွေး အကူအညီတောင်းခံလျက်ရှိကြကုန်၏။ [၂] (တစ်ဖန် ထိုသို့သော သားသမီးအား ဤသို့ပြောဆိုကြလေ၏။) အသင်သည်ပျက်စီးရလေခြင်း၊ အသင်သည် သက်ဝင်ယုံကြည်ပါလေ၊ စင်စစ်ကေန် အလ္လာဟ်အရှင်မြတ်၏ချိန်းချက်မှုကား မှန်ကန်သောချိန်းချက်မှုပင် ဖြစ်ပေ၏။ ထိုအခါ ၎င်းက 'ဤသည် ရှေးသူဟောင်းတို့၏ ယုံတမ်းစကားများသာလျှင် ဖြစ်သည်' ဟု ဆိုပြန်လေ၏။

---

(၁) အထက်တွင် အရွယ်ရောက်၍ အသိအလိမ္မာ ဉာဏ်ပညာနှင့်ပြည့်စုံသော အလ္လာဟ်အရှင်မြတ်အား ယုံကြည်ကိုးကွယ်သော၊ ထိုအရှင်မြတ်၏ ကျေးဇူးတော် သိတတ်သော၊ ကျေးဇူးတုံ့ပြန် လိုစိတ်ရှိသော၊ ကျေးဇူးရှင် မိဘနှစ်ပါးတို့အား ရိုသေမြတ်နိုးသော အလ္လာဟ်အရှင်မြတ် နှစ်သက်တော်မူသည့် အကျင့်သီလများကို ဆောက်တည်လိုသော မိမိ၏သားသမီးများကိုပါ လူတော်လူကောင်းတွေ ဖြစ်စေလိုသော၊မိမိ၏ ချို့တဲ့မှုများကို ဝန်ခံလိုသော မိမိ 'မွတ်စ်လင်မ်' ဖြစ်ရသည်ကို ဂုဏ်ယူသော သူတော်စင်များအကြောင်းပါရှိသည်။

ဤအာယတ်တော်တွင် အလ္လာဟ်အရှင်မြတ်အား မယုံကြည်သော၊ သေပြီးနောက် ပြန်လည်ရှင်ထရမည်ကို မယုံကြည်သော၊ မိဘနှစ်ပါးအား မရိုသေမလေးစား မခန့်ညားသော မိဘနှစ်ပါးနှင့်ပင် မိုက်ရိုင်းစွာ စကားပြောဆိုသော ကာဖိရ် သားမိုက်အကြောင်းကို မိန့်ဆိုထားတော်မူသည်။

(၂) ဆိုလိုသည်ကား - မိဘနှစ်ပါးတို့သည် မွတ်စ်လင်မ်များဖြစ်ကြပေရာ၊ ကာဖိရ် သားမိုက်၏ စကားများကို ကြားရပြီး ဝမ်းနည်းကြေကွဲကာ အလ္လာဟ်အရှင်မြတ်ထံတော်၌ အကူအညီတောင်းကြသည်။

သားမိုက်ကို အသင်ပျက်စီးရတော့မည်။ အသင်ယုံကြည်ပါ။ အလ္လာဟ်အရှင်မြတ်၏ ကတိတော်သည် မှန်ကန်သည်။ သေပြီးနောက်၊ အမှန်ရှင်ပြန်ထရမည်ဖြစ်သည်ဟု သံယောဇဉ် ကြီးစွာဖြင့် သွန်သင်ဆုံးမရှာကြလေသည်။ ယခုခေတ်တွင်လည်း ဤသို့သော သားမိုက်များကြောင့် ပူဆွေးဒုက္ခ စိတ်သောကဖြစ်နေကြရရှာသော မိဘများကား မနည်းလှပေ။

أُولَٰئِكَ الَّذِينَ حَقَّ عَلَيْهِمُ الْقَوْلُ فِي أُمَمٍ قَدْ خَلَتْ مِن قَبْلِهِم مِّنَ الْجِنِّ وَالْإِنسِ ۖ إِنَّهُمْ كَانُوا خَاسِرِينَ ⑱

၁၈။ ထိုသူတို့ကား အကြင်သူတို့ပင်၊ ဂျင်န်အမျိုးသားတို့အနက်မှလည်းကောင်း၊ လူသားတို့အနက်မှလည်းကောင်း၊ လွန်လေပြီးဖြစ်သောအမျိုးသားတို့နှင့်အတူ ၎င်းတို့နှင့်ပတ်သက်သော အလ္လာဟ်အရှင်မြတ်၏အမိန့်တော်မှာ အမှန်ဖြစ်ခဲ့လေပြီ။ ဧကန်မလွဲ ၎င်းတို့မှာ ဆုံးရှုံးသူများပင် ဖြစ်ကြကုန်၏။

وَلِكُلٍّ دَرَجَاتٌ مِّمَّا عَمِلُوا ۖ وَلِيُوَفِّيَهُمْ أَعْمَالَهُمْ وَهُمْ لَا يُظْلَمُونَ ⑲

၁၉။ စင်စစ်သော်ကား (မုအ်မင်န်၊ကာဖိရ်) အသီးသီးတို့၌ ၎င်းတို့ ကျင့်မူခဲ့ကြကုန်သော အကျင့်အမူများအလိုက် အဆင့်အတန်းများ ရှိကြလေ၏။ ၎င်းပြင် (အလ္လာဟ်အရှင်မြတ်သည် ဤသို့ အကျိုးပေးတော်မူခဲ့ခြင်းမှာ) ထိုအရှင်မြတ်သည် ၎င်းတို့အား ၎င်းတို့၏ အကျင့်အမူများ၏အစားကို အပြည့်အစုံ ပေးတော်မူအံ့သောငှာ ဖြစ်ပေသည်။ သို့ရာတွင် ၎င်းတို့မှာ (မည်သို့မျှ) မတရားပြုမူခြင်းကို ခံကြရမည် မဟုတ်ပေ။

وَيَوْمَ يُعْرَضُ الَّذِينَ كَفَرُوا عَلَى النَّارِ أَذْهَبْتُمْ طَيِّبَاتِكُمْ فِي حَيَاتِكُمُ الدُّنْيَا وَاسْتَمْتَعْتُم بِهَا فَالْيَوْمَ تُجْزَوْنَ عَذَابَ الْهُونِ بِمَا كُنتُمْ تَسْتَكْبِرُونَ فِي الْأَرْضِ بِغَيْرِ الْحَقِّ وَبِمَا كُنتُمْ تَفْسُقُونَ ⑳

၂၀။ ၎င်းပြင် ကာဖိရ် သွေဖည်ငြင်းပယ်ကြသောသူတို့သည် ငရဲမီး၏ရှေ့သို့ယူလာခြင်းကို ခံကြရသောအခါ (ဤသို့မိန့်ကြားတော်မူခြင်းကို ခံကြရပေမည်၊) အသင်တို့သည် မိမိတို့၏လောကီဘဝ၌ပင် မိမိတို့၏ကောင်းမြတ်သောအရာများ (ဝါ) စည်းစိမ်ချမ်းသာများကို ဖြုန်းတီးခဲ့ကြပြီ။ ယင်းစည်းစိမ်ချမ်းသာများဖြင့် အကျိုးလည်းခံစားခဲ့ကြပြီ။ သို့ဖြစ်ပေရာ ယနေ့သော်ကား အသင်တို့သည် ကမ္ဘာမြေဝယ် မိမိတို့ မတရားသဖြင့် ဘဝင်မြင့်မောက်မာလျက် ရှိခဲ့ကြသောကြောင့်လည်းကောင်း၊ အမိန့်တော်ကို သွေဖည်လျက် ရှိခဲ့ကြသောကြောင့်လည်းကောင်း၊ ကျိုးယုတ်ရှက်ရဖြစ်စေအံ့သော ပြစ်ဒဏ်ကိုအစားပေးခြင်း ခံကြရကုန်အံ့သတည်း။

وَاذْكُرْ أَخَا عَادٍ إِذْ أَنذَرَ قَوْمَهُ بِالْأَحْقَافِ وَقَدْ خَلَتِ النُّذُرُ مِن بَيْنِ يَدَيْهِ وَمِنْ خَلْفِهِ أَلَّا تَعْبُدُوا إِلَّا اللَّهَ إِنِّي أَخَافُ عَلَيْكُمْ عَذَابَ يَوْمٍ عَظِيمٍ ﴿٢١﴾

၂၁။ ၎င်းပြင် (အို-နဗီတမန်တော်) အသင်သည် (၎င်းတို့အား) 'အာဒ်' အမျိုးသားတို့၏နောင်တော် (တမန်တော်ဟူဒ်)၏ အကြောင်းပြောပြပါလေ။ တစ်ရံရောအခါဝယ် ထိုနောင်တော်သည် မိမိအမျိုးသားတို့အား 'အဟ်ကာဖ်' အမည်ရှိ သဲတောင်များ (ရှာ)၌ သတိပေးနှိုးဆော်ခဲ့၏။ [၁]

ထို့ပြင် ထိုနောင်တော်အလျင်လည်းကောင်း၊ ထိုနောင်တော် နောက်တွင်လည်းကောင်း၊ သတိပေးနှိုးဆော်သူများသည် လွန်လေခဲ့ပြီး ဖြစ်ကြကုန်၏။ (ထိုနောင်တော်က) အသင်တို့သည် အလ္လာဟ်အရှင်မြတ်မှတစ်ပါး အခြားတစ်စုံတစ်ရာကိုမျှ ဆည်းကပ်ကိုးကွယ်ခြင်း မပြုကြကုန်လင့်။ ဧကန်စင်စစ် ငါသည် အသင်တို့နှင့်ပတ်သက်၍ ကြီးကျယ်လှစွာသောနေ့၏ ပြစ်ဒဏ်ကို စိုးရိမ်သည်ဟူ၍(သတိပေးနှိုးဆော်ခဲ့၏၊)

قَالُوا أَجِئْتَنَا لِتَأْفِكَنَا عَنْ آلِهَتِنَا فَأْتِنَا بِمَا تَعِدُنَا إِن كُنتَ مِنَ الصَّادِقِينَ ﴿٢٢﴾

၂၂။ ၎င်းတို့က (ဤသို့) ပြောဆိုခဲ့ကြကုန်၏။ 'အသင်သည် ကျွန်ုပ်တို့အား ကျွန်ုပ်တို့၏ ကိုးကွယ်ရာတို့မှ လွှဲဖယ်ရန် ကျွန်ုပ်တို့ထံ လာခဲ့လေသလော။ သို့ဖြစ်လျှင် အသင်သည် သစ္စာဝါဒီတစ်ဦး ဖြစ်ပါမူ အသင် ကျွန်ုပ်တို့အား ခြိမ်းခြောက်လျက်ရှိသော (ပြစ်ဒဏ်)ကို ကျွန်ုပ်တို့ထံ ယူဆောင်ခဲ့လော့'။

---

(၁) တမန်တော်ဟူဒ်သည် မိမိ၏ အမျိုးသားများအား အဟ်ကာဖ်တွင် သတိပေးခဲ့၏။ 'အဟ်ကာဖ်' ဟူသောပုဒ်၏ မူရင်းအနက်မှာ ရှည်လျားသော သဲတောင်များဟူ၍ဖြစ်သည်။ 'အဟ်ကာဖ်' သည် အဘယ်မှာနည်း။

ယမာမတ်၊ အွမ္မာန်၊ ဗဟ်ရိုင်န်၊ ဟဿရမောက်တ်နှင့် အနောက် ယမန်၏ စပ်ကြားတွင် 'ဒဟ်နာ'၊ 'ရဗ်အုခါလီ' မည်တွင်သော အလွန်ကြီးမားသော သဲကန္တာရကြီးရှိသည်။ ထိုကန္တာရကြီးမှာ နေထိုင်ရန် မလျော်ကန်ခဲ့ပေ။

သို့တစေလည်း ထိုသဲကန္တာရကြီး၏ အစွန်အဖျားတွင် အချို့အချို့သောဒေသများမှာ လူများနေနိုင်ကြလောက်အောင် မြေဩဇာကောင်းပေသည်။ အထူးသဖြင့် ဟဿရမောက်တ်နှင့် နဂျ်ရာန်စပ်ကြားရှိဒေသမှာ မြေဩဇာ အတော်ပင်ကောင်းလှပေသည်။ 'အာဒ်အိရမ်'အမျိုးသားများသည် ထိုဒေသ၌ပင်နေထိုင်ခဲ့ကြပေသည် ➢➢

٢٣ قَالَ إِنَّمَا الْعِلْمُ عِندَ اللَّهِ وَأُبَلِّغُكُم مَّا أُرْسِلْتُ بِهِ وَلَٰكِنِّي أَرَاكُمْ قَوْمًا تَجْهَلُونَ

၂၃။ ထိုနောင်တော်က (ဤသို့)ပြောကြားခဲ့လေ၏။ (အပြစ်ဒဏ်နှင့် စပ်လျဉ်း၍ တိကျသော)အသိပညာကား အလ္လာဟ်အရှင်မြတ်အထံတော်၌သာရှိ၏။ စင်စစ်သော်ကား ငါသည် အသင်တို့ထံ အကြင် အမိန့်တော်များကိုသာ ပို့ဆောင်၏။ ငါသည် ယင်းအမိန့်တော်များနှင့်တကွ စေလွှတ်ခြင်းခံခဲ့ရလေ၏။ သို့ရာတွင် ငါသည် အသင်တို့အား အသိပညာကင်းမဲ့သော အမျိုးသားများအဖြစ် တွေ့မြင်ရပေသည်။

٢٤ فَلَمَّا رَأَوْهُ عَارِضًا مُّسْتَقْبِلَ أَوْدِيَتِهِمْ قَالُوا هَٰذَا عَارِضٌ مُّمْطِرُنَا ۚ بَلْ هُوَ مَا اسْتَعْجَلْتُم بِهِ ۖ رِيحٌ فِيهَا عَذَابٌ أَلِيمٌ

၂၄။ ထို့နောက် ၎င်းတို့သည် ယင်းပြစ်ဒဏ်ကို မိမိတို့ (နေထိုင်ရာ)တောင်ကြားအရပ်ဒေသများသို့ ရှေ့တူရူလာသော မိုးတိမ်အဖြစ် တွေ့မြင်ခဲ့ကြလေသောအခါ ဤသည် ကျွန်ုပ်တို့အပေါ်၌ ရွာသွန်းအံ့သော မိုးတိမ်ပင်ဖြစ်သည်ဟု ဆိုခဲ့ကြကုန်၏။ ထိုသို့အလျှင်းမဟုတ်၊ စင်စစ်မှာကား ယင်းသည် အသင်တို့ အလျင်စလို တောင်းဆိုခဲ့ကြသော(ပြစ်ဒဏ်ပင်)ဖြစ်၏။ (ယင်းသည်) လေပြင်းမုန်တိုင်း တစ်ခုဖြစ်၏။ ယင်းလေပြင်းမုန်တိုင်း၌ နာကျင်ဖွယ်ဖြစ်သော ပြစ်ဒဏ်သည် ရှိပေသည်။

٢٥ تُدَمِّرُ كُلَّ شَيْءٍ بِأَمْرِ رَبِّهَا فَأَصْبَحُوا لَا يُرَىٰ إِلَّا مَسَاكِنُهُمْ ۚ كَذَٰلِكَ نَجْزِي

၂၅။ ထိုလေကား မိမိအား ဖန်ဆင်းတော်မူသော အရှင်မြတ်၏အမိန့်တော်နှင့် အရာခပ်သိမ်းတို့ကို ဖျက်ဆီးပေမည်။ ထို့နောက် ထိုသူတို့မှာ ၎င်းတို့နေအိမ်များမှတပါး အခြားတစ်စုံတစ်ရာကိုမျှ မမြင်ရလေသောအဖြစ်သို့ ရောက်သွားခဲ့ကြကုန်၏။

➤➤ (အဆိုပါ ဒေသသည်ပင် 'အဟ်ကာဖ်') မည်၏။ ကြည့်-အရ်ဿုလ်ကုရ်အာန်၊ အစောင်-၁၊ စာမျက်နှာ(၉၅)၊ အွမ္မာန်မှ ယမန်အထိ၊ နဂျ်ဒ်မှ ဟဿရမောက်တ်အထိ ကျယ်ပြန့်လျက်ရှိသော အဆိုပါသဲကန္တာရကြီးသည် စတုရန်းမိုင်ပေါင်း သုံးသိန်းခန့်ရှိသည်။ ထိုကန္တာရကြီး၏ အနောက်ဘက်ပိုင်းတွင် နိမ့်မြင့်သောသဲများရှိသည်။ ထိုဒေသကိုပင် 'အဟ်ကာဖ်' ဟူ၍ ခေါ်ဆိုကြသည်။ကြည့်-မာဂျိဒီ။ အ-၆၊ စ-၁၀၀၈။ အအ-၂၄

الْقَوْمَ الْمُجْرِمِيْنَ ﴿٢٥﴾

ငါအရှင်မြတ်သည် အပြစ်ရှိသူတို့အား ထိုနည်း အတိုင်းပင် အစားပေးတော်မူပေသတည်း။

وَلَقَدْ مَكَّنّٰهُمْ فِيْمَآ إِنْ
مَّكَّنّٰكُمْ فِيْهِ وَجَعَلْنَا
لَهُمْ سَمْعًا وَّأَبْصَارًا وَّ
أَفْئِدَةً ۖ فَمَآ أَغْنٰى عَنْهُمْ
سَمْعُهُمْ وَلَآ أَبْصَارُهُمْ
وَلَآ أَفْئِدَتُهُمْ مِّنْ شَيْءٍ
إِذْ كَانُوْا يَجْحَدُوْنَ
بِاٰيٰتِ اللّٰهِ وَحَاقَ بِهِمْ
مَّا كَانُوْا بِهٖ يَسْتَهْزِءُوْنَ ﴿٢٦﴾ ع

၂၆။ ထိုမှတပါး ဧကန်မလွဲ ငါအရှင်မြတ်သည် အသင်တို့အား ပေးတော်မမူခဲ့သော ဆောင်ရွက်နိုင်ရန် စွမ်းရည်သတ္တိကိုပင် ၎င်းတို့အား ပေးတော်မူခဲ့၏။ ထိုမှတပါး ငါအရှင်မြတ်သည် ထိုသူတို့အား နား၊ မျက်စိနှင့် စိတ်နှလုံးများကိုလည်း ပေးသနားတော်မူခဲ့၏။ သို့တစေလည်း ထိုသူတို့၏ နားများသည် ထိုသူတို့အဖို့ လုံး၀ အသုံး၀င်ခဲ့သည် မဟုတ်ပေ။ ထိုနည်းတူစွာ ထိုသူတို့၏ မျက်စိများလည်း အသုံး မ၀င်ခဲ့ပေ။ ထိုသူတို့၏ စိတ်နှလုံးများလည်း အသုံး ၀င်ခဲ့သည် မဟုတ်ပေ။ အကြောင်းသော်ကား ၎င်းတို့ သည် အလ္လာဟ်အရှင်မြတ်၏ သက်သေလက္ခဏာတော် များကို ငြင်းပယ်လျက် ရှိခဲ့ကြသောကြောင့်ပင်။ ထို့ပြင် ၎င်းတို့ ပြက်ရယ် ပြောင်လှောင်လျက် ရှိခဲ့ကြသော ပြစ်ဒဏ်သည် ၎င်းတို့အား ၀န်းဝိုင်းခဲ့လေ၏။

وَلَقَدْ أَهْلَكْنَا مَا حَوْلَكُمْ
مِّنَ الْقُرٰى وَصَرَّفْنَا
الْاٰيٰتِ لَعَلَّهُمْ يَرْجِعُوْنَ ﴿٢٧﴾

၂၇။ ထိုမှတပါး ဧကန်စင်စစ် ငါအရှင်မြတ်သည် အသင်တို့၏ပတ်၀န်းကျင်၌ရှိခဲ့သော မြို့ရွာ(သား) တို့အား(လည်း) ဖျက်ဆီးတော်မူခဲ့၏။ ထို့ပြင် ငါ အရှင်မြတ်သည် ၎င်းတို့ (တွဲဖက် ကိုးကွယ်မှုကို စွန့်၍) ပြန်လှည့်ကြအံ့သောငှာ (မိမိ၏) သက်သေ လက္ခဏာတော်များကို အမျိုးမျိုး ပြောင်းလဲ မိန့်ကြား ပြသတော်မူခဲ့၏။

فَلَوْلَا نَصَرَهُمُ الَّذِيْنَ
اتَّخَذُوْا مِنْ دُوْنِ اللّٰهِ
قُرْبَانًا اٰلِهَةً ۭ

၂၈။ ထို့နောက် ၎င်းတို့ အလ္လာဟ်အရှင်မြတ်အား စွန့်၍ (မိမိတို့) ချဉ်းကပ်ရန်အလို့ငှာ ကိုးကွယ်ရာများ အဖြစ် သတ်မှတ်ခဲ့ကြသော ဘုရားများသည် ၎င်းတို့ အား အဘယ်ကြောင့် မကူညီခဲ့ကြသနည်း။

စင်စစ်မှာကား ယင်းကိုးကွယ်ရာများသည် ၎င်းတို့ထံမှ ပျောက်ကွယ်၍ သွားခဲ့ကြကုန်၏။ အမှန်စင်စစ် ဤသည် ထိုသူတို့၏လိမ်ဆယ်မှုနှင့် ထိုသူတို့ ကြံစည်ဖန်တီးခဲ့သောအရာပင် ဖြစ်ပေသတည်း။

၂၉။ (အို-နဗီတမန်တော်၊ ပြန်လည်၍ ပြောပြပါလေ။) တစ်ရံရောအခါဝယ် ငါအရှင်မြတ်သည် ဂျင်န်တစ်စုကို အသင်ရှိရာသို့ ရောက်ရှိစေတော်မူခဲ့ရာ ၎င်းတို့သည် ကုရ်အာန်ကျမ်းတော်မြတ်ကို နားထောင်ကြကုန်၏။ သို့ဖြစ်ပေရာ ၎င်းတို့သည် ထိုတမန်တော်မြတ်ရှိရာသို့ ရောက်ရှိခဲ့ကြသောအခါ ၎င်းတို့က (မိမိတို့အချင်းချင်း) အသင်တို့သည် ဆိတ်ဆိတ်နေကြလေကုန်ဟု ပြောဆိုခဲ့ကြကုန်၏။ ထို့နောက် ယင်းကုရ်အာန်ကျမ်းတော်မြတ် (ဖတ်ကြား၍) ပြီးဆုံးသွားသောအခါ ၎င်းတို့သည် မိမိတို့အမျိုးသားတို့ထံ သတိပေးနိုးဆော်သူတို့အဖြစ် လှည့်ပြန်ခဲ့ကြကုန်၏။ ၁

بَلْ ضَلُّوا عَنْهُمْ ۚ وَذَٰلِكَ
إِفْكُهُمْ وَمَا كَانُوا
يَفْتَرُونَ ﴿٢٨﴾
وَإِذْ صَرَفْنَا إِلَيْكَ نَفَرًا مِّنَ
الْجِنِّ يَسْتَمِعُونَ الْقُرْآنَ
فَلَمَّا حَضَرُوهُ قَالُوا أَنصِتُوا ۖ
فَلَمَّا قُضِيَ وَلَّوْا إِلَىٰ
قَوْمِهِم مُّنذِرِينَ ﴿٢٩﴾

---

**(၁) အချို့ဂျင်န်များ ကုရ်အာန်ကိုကြားနာ၍ အီမာန်ယုံကြည်ခဲ့ခြင်း။**

တမန်တော်မြတ် မုဟမ္မဒ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်) မပွင့်ပေါ်မီ ဂျင်န်များသည် အထက်ကောင်းကင်၏ အချို့သတင်းများကို အနည်းငယ် ကြားသိ နေခဲ့ကြ၏။ တမန်တော်မြတ်ထံသို့ ဝဟီ စတင်ကျရောက်လာခဲ့သည့် အချိန်မှစပြီး၊ ဂျင်န်များသည် အထက်ကောင်းကင်၏ သတင်းများကို ကြားသိခွင့်လုံးဝ မရရှိခဲ့ကြတော့ပေ။ ခိုးဝှက်နားထောင်ရန် ကြိုးစားကြသည့်အခါ မီးတောက်မီးလျှံများဖြင့် အကြီးအကျယ်ပစ်ပေါက်ခြင်း ခံခဲ့ကြရပေသည်။ကြည့် - ကုရ်အာန် (၁၅:၁၆-၁၈၊ ၃၇:၆-၁၀။ ၇၂:၈-၉)။

ယင်းသို့ဖြစ်ရသောအခါ ဂျင်န်များသည် ဤကမ္ဘာတွင် ဖြစ်ရပ်သစ် တစ်ရပ်ရပ် မုချပေါ်ပြီဟု တွေးတောမိပြီး၊ ယင်းသည့် ဖြစ်ရပ်သစ်ကို စူးစမ်းရန်အတွက် ကမ္ဘာအရပ်ရပ်သို့ အုပ်စုအသီးသီးဖြန့်၍ ထွက်ခဲ့ကြ၏။

ဂျင်န်အုပ်စုတစ်ခုသည် 'ဗတ္တနူနခ်လဟ်' အမည်ရှိသော နေရာမှ ဖြတ်သန်းသွားခဲ့၏။ အကြောင်းအားလျော်စွာ တမန်တော်မြတ်သည်လည်း မိမိ၏ အချို့တပည့်သာဝကများနှင့်အတူ 'ဆွလာတုလ် ဖဂျ်ရ်' နံနက်ချိန် ဆွလာတ်ဝတ်ပြုနေတော်မူခဲ့၏။ ထိုအခါ အလ္လာဟ်အရှင်မြတ်သည် အဆိုပါဂျင်န်အုပ်စုအား ကုရ်အာန်ကျမ်းလာ ဒေသနာတော်များကို ကြားနာစေရန်အလို့ငှာ တမန်တော်မြတ်ရှိရာသို့ လှည့်ပေးတော်မူလိုက်၏။

အဆိုပါ ဂျင်န်အုပ်စုသည် ကုရ်အာန်ကျမ်းလာ ဒေသနာတော်များကို ကြားနာရသည့်အခါ၊ လွန်စွာပီတိဖြစ်ကာ အချင်းချင်း - အသင်တို့ ဆိတ်ဆိတ်နေကြ၊ ကောင်းစွာနားထောင်ကြဟူ၍ပင် ပြောဆိုခဲ့၏၊ ➤➤

قَالُوْا يٰقَوْمَنَآ اِنَّا سَمِعْنَا كِتٰبًا اُنْزِلَ مِنْۢ بَعْدِ مُوْسٰى مُصَدِّقًا لِّمَا بَيْنَ يَدَيْهِ يَهْدِيْٓ اِلَى الْحَقِّ وَاِلٰى طَرِيْقٍ مُّسْتَقِيْمٍ ﴿٣٠﴾

၃၀။ ၎င်းတို့က ပြောဆိုခဲ့ကြသည်မှာ "အို-ကျွန်ုပ်တို့၏အမျိုးသားတို့၊ ဧကန်မလွဲ ကျွန်ုပ်တို့သည် (နဗီတမန်တော်)မူစာ၏နောက်တွင် ချပေးခြင်းခံခဲ့ရလေသော ကျမ်းဂန်တစ်စောင်ကို ကြားနာခဲ့ကြရကုန်၏။ (ယင်းကျမ်းဂန်သည်) ၎င်း၏အလျင်ရှိခဲ့သောကျမ်းဂန်တို့ကို ထောက်ခံလျက်ရှိ၏။ အမှန်တရားကိုလည်းကောင်း၊ ဖြောင့်မတ်သောတရားလမ်းကိုလည်းကောင်း၊ ညွှန်ပြ၏။

➤➤ အဆိုပါဂျင်န်အုပ်စုသည် ကုရ်အာန်ကျမ်းလာ ဒေသနာတော်များကို ကြားနာပြီးသောအခါ၊ ဤသည်ပင်ငါတို့ စူးစမ်းနေကြသော အကြောင်းထူးဖြစ်ရပ်သစ်ဖြစ်သည်။ ဤသည်ကြောင့်ပင် ငါတို့သည်ကောင်းကင်သတင်းများ မကြားရခြင်းဖြစ်သည်ဟု ပြောဆိုခဲ့၏။

ထို့နောက် အဆိုပါ ဂျင်န်အုပ်စုသည် တမန်တော်မြတ်အား အီမာန် သက်ဝင်ယုံကြည်ခဲ့၏။ ထို့နောက် မိမိတို့၏ အမျိုးသားများကိုလည်း တမန်တော်မြတ်အား အီမာန်သက်ဝင်ယုံကြည်ကြရန် တရားဓမ္မဟောကြားခဲ့လေသည်။ ဤအကြောင်းနှင့်စပ်လျဉ်း၍ ကုရ်အာန်(၇၂း၁-၁၉)တွင် အကျယ် မိန့်ဆိုထားတော်မူသည်။

ဟဒီးဆ်သြဝါဒတော်များကို ထောက်ရှုခြင်းအားဖြင့် တမန်တော်မြတ်သည် မိမိထံ ယင်းသို့ ဂျင်န်များရောက်ရှိလာပြီး၊ ကုရ်အာန်ကျမ်းလာ ဒေသနာတော်များ ကြားနာ၍ အီမာန် သက်ဝင်ယုံကြည် သွားခဲ့ကြသည်ကို သိတော်မမူခဲ့ပေ။

အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်အရ သစ်ပင်တစ်ပင်က ယင်းသည့်အကြောင်းနှင့်စပ်လျဉ်း၍ အမြွက်မျှ လျှောက်ထားခဲ့လေသည်။ ထို့နောက် အလ္လာဟ်အရှင်မြတ်သည် ယင်းသည့်အကြောင်းနှင့် စပ်လျဉ်းပြီး ကုရ်အာန်ကျမ်းလာ အာယတ်တော်(၇၂း၁-၁၉)ကို ထုတ်ပြန်ချမှတ်ပြီး၊ တမန်တော်မြတ်အား အကျယ်တဝင့်အသိပေးတော်မူခဲ့လေသည်။

ထို့နောက် မြောက်မြားစွာသော ဂျင်န်များသည် တမန်တော်မြတ်အား အီမာန် သက်ဝင်ယုံကြည်လာခဲ့ကြပေသည်။ တမန်တော်မြတ်အား ဖူးတွေ့ရန်နှင့် သာသနာရေးရာများကို ဆည်းပူးရန် အလို့ငှာတမန်တော်မြတ်ထံသို့ အကြိမ်ကြိမ် လာခဲ့ကြပေသည်။

ပညာရှင်ကြီး ခဖ်ဖာဂျီက - သက်ဆိုင်ရာ ဟဒီးဆ် သြဝါဒတော်များကို လေ့လာဆည်းပူးပြီးနောက်တမန်တော်မြတ်သည် ခြောက်ကြိမ်တိတိ ဂျင်န်များကို လက်ခံတွေ့ဆုံတော်မူခဲ့သည်ဟု အတိအလင်း ရေးသားသည်။

တမန်တော်မြတ်ထံသို့ ဂျင်န်များ လာရောက် တရားနာယူခဲ့ကြသည့် အကြောင်းနှင့်စပ်လျဉ်း၍ အကျယ်ကို သိလိုပါက အီဗ်နူကဆီရ်ကျမ်း အစောင် (၄)၊ စာမျက်နှာ - (၁၆၂-၁၇၁) တွင် ရှုပါကုန်။

يٰقَوْمَنَآ اَجِيْبُوْا دَاعِيَ اللّٰهِ وَاٰمِنُوْا بِهٖ يَغْفِرْ لَكُمْ مِّنْ ذُنُوْبِكُمْ وَيُجِرْكُمْ مِّنْ عَذَابٍ اَلِيْمٍ ﴿٣١﴾

၃၁။ အို-ကျွန်ုပ်တို့၏ အမျိုးသားတို့၊ အသင်တို့သည် အလ္လာဟ်အရှင်မြတ်ဘက်သို့ ဖိတ်ခေါ်သူ၏ ဖိတ်ခေါ်ချက်ကို နာယူလက်ခံကြလေကုန်။ ထို့ပြင် အသင်တို့သည် ထိုဖိတ်ခေါ်သူအား သက်ဝင်ယုံကြည်ကြလေကုန်။ ထိုအရှင်မြတ်သည် အသင်တို့အဖို့ အသင်တို့၏ ပြစ်မှုတို့ကို ခွင့်လွှတ်ချမ်းသာ ပေးသနားတော်မူပေမည်။ ထိုမှတပါး ထိုအရှင်မြတ်သည် အသင်တို့အား နာကျင်ဖွယ်ဖြစ်သော ပြစ်ဒဏ်မှလည်း ကာကွယ်စောင့်ရှောက်တော်မူပေမည်။

وَمَنْ لَّا يُجِبْ دَاعِيَ اللّٰهِ فَلَيْسَ بِمُعْجِزٍ فِى الْاَرْضِ وَلَيْسَ لَهٗ مِنْ دُوْنِهٖٓ اَوْلِيَآءُ ۗ اُولٰٓئِكَ فِيْ ضَلٰلٍ مُّبِيْنٍ ﴿٣٢﴾

၃၂။ သို့ရာတွင် မည်သူမဆို အလ္လာဟ်အရှင်မြတ်ဘက်သို့ ဖိတ်ခေါ်သူ၏ ဖိတ်ခေါ်ချက်ကို နာယူလက်ခံခြင်းမပြုခဲ့မူ ထိုသူသည် (အလ္လာဟ်အရှင်မြတ်အား) ကမ္ဘာမြေဝယ် မစွမ်းဆောင်နိုင်အောင် ပြုစွမ်းနိုင်သူ မဟုတ်ပြီ။ ထိုမှတပါး အလ္လာဟ်အရှင်မြတ်အပြင် ထိုသူ၌ ကာကွယ်စောင့်ရှောက်အံ့သောသူဟူ၍လည်း တစ်ဦးတစ်ယောက်မျှပင် ရှိလိမ့်မည်မဟုတ်ပြီ။ ထိုသူတို့ကား ထင်ရှားစွာသောလမ်းမှားမှု၌ပင်ရှိနေကြကုန်သတည်း။

اَوَلَمْ يَرَوْا اَنَّ اللّٰهَ الَّذِيْ خَلَقَ السَّمٰوٰتِ وَالْاَرْضَ وَلَمْ يَعْيَ بِخَلْقِهِنَّ بِقٰدِرٍ عَلٰٓى اَنْ يُّحْيِيَ الْمَوْتٰى ۗ بَلٰٓى اِنَّهٗ عَلٰى كُلِّ شَيْءٍ قَدِيْرٌ ﴿٣٣﴾

၃၃။ မိုးကောင်းကင်များကိုလည်းကောင်း၊ ပထဝီမြေကိုလည်းကောင်း၊ ဖန်ဆင်းတော်မူခဲ့သည်သာမက ယင်းမိုးကောင်းကင်များနှင့် ပထဝီမြေတို့ကို ဖန်ဆင်းတော်မူသောကြောင့် ညောင်းညာမောပန်းတော်မူခြင်းမရှိခဲ့သော အလ္လာဟ်အရှင်မြတ်သည် သူသေတို့အား ရှင်စေခြင်းကို စွမ်းနိုင်တော်မူသောအရှင် ဖြစ်တော်မူကြောင်း၊ ၎င်းတို့သည် မစဉ်းစား မဆင်ခြင် မတွေ့မမြင်ခဲ့ကြလေသလော။ အဘယ်ကြောင့် မဟုတ်ပါသနည်း။ ဧကန်မလွဲ ထိုအရှင်မြတ်သည် အရာခပ်သိမ်းတို့ကို စွမ်းနိုင်တော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူ၏။

وَيَوْمَ يُعْرَضُ الَّذِينَ كَفَرُوا عَلَى النَّارِ أَلَيْسَ هَٰذَا بِالْحَقِّ قَالُوا بَلَىٰ وَرَبِّنَا قَالَ فَذُوقُوا الْعَذَابَ بِمَا كُنْتُمْ تَكْفُرُونَ ﴿٣٤﴾

၃၄။ ၎င်းပြင် 'ကာဖိရ်' သွေဖည်ငြင်းပယ်ကြကုန်သောသူတို့သည် ငရဲမီး၏ရှေ့သို့ ယူဆောင်လာခြင်းကို ခံကြရသောအခါ ဤသည် အဟုတ်အမှန်ပင်မဟုတ်ပါလော (ဟုမေးမြန်းခြင်းကို ခံကြရပေမည်။) ထိုအခါ ၎င်းတို့က 'ကျွန်တော်မျိုးတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၏ကစမ်၊ ဟုတ်ပါသည်' ဟု လျှောက်ထားကြပေမည်။ ထိုအရှင်မြတ်က 'သို့ဖြစ်လျှင် အသင်တို့သည် မိမိတို့ သွေဖည် ငြင်းပယ်ခဲ့ကြသောကြောင့် ပြစ်ဒဏ်ကို မြည်းစမ်းကြလေကုန်' ဟု မိန့်ကြားတော်မူပေမည်။

فَاصْبِرْ كَمَا صَبَرَ أُولُو الْعَزْمِ مِنَ الرُّسُلِ وَلَا تَسْتَعْجِلْ لَهُمْ كَأَنَّهُمْ يَوْمَ يَرَوْنَ مَا يُوعَدُونَ لَمْ يَلْبَثُوا إِلَّا سَاعَةً مِنْ نَهَارٍ بَلَاغٌ فَهَلْ يُهْلَكُ إِلَّا الْقَوْمُ الْفَاسِقُونَ ﴿٣٥﴾

၃၅။ သို့ဖြစ်ပေရာ (အို-နဗီတမန်တော်) အသင်သည် စိတ်ဓာတ်ခိုင်မာသော (ဖွဲ့သတ္တိရှိကြသော) ရစူလ်တမန်တော်များနည်းတူ ခန္တီတရား ထားရှိပါလေ။ ထို့ပြင် အသင်သည် ၎င်းတို့နှင့်ပတ်သက်၍ အလျင်စလို မပြုပါလေနှင့်။ ၎င်းတို့သည် မိမိတို့ ချိန်းချက်ခြင်းခံကြရလေသော ပြစ်ဒဏ်ကို တွေ့မြင်ကြသောနေ့တွင် မိမိတို့မှာ (လောကီဘဝ၌) နေ့အချိန်၏ တစ်နာရီခန့်မျှ အချိန်ထက်ပိုမို၍ နေထိုင်ခဲ့ကြသည် မဟုတ်ဘိသကဲ့သို့ပင် (ထင်မှတ်ကြပေမည်။) (ဤသည် အလ္လာဟ်အရှင်မြတ်အထံတော်မှ အသင်တို့ထံ အမိန့်တော်များ) ပို့ဆောင်ခြင်းပင်။ သို့ဖြစ်ပေရာ သွေဖည်သောသူတို့သည်သာလျှင် ဖျက်ဆီးခြင်းကို ခံကြရကုန်အံ့သတည်း။ ①

① အလ္လာဟ်အရှင်မြတ်သည် လူသားတို့အား ဆိုး၊ ကောင်း၊ မှား၊ မှန်၊ လမ်း ၂-တန်ကို ပြတော်မူပြီးပြီ။ တရားဓမ္မ ဟောညွှန်ပြတော်မူပြီးပြီ။ ထိုအရှင်မြတ်၌ တာဝန်ကုန်ပြီ။ ထိုအရှင်မြတ်သည် မည်သည့်သူကိုမျှ အကြောင်းမဲ့ အရေးယူတော်မူသည်မရှိ။ မိမိကိုယ်ကို မိမိစော်ကားသော၊ မိမိကိုယ်မိမိပျက်စီးရာ ပျက်စီးကြောင်း ပြုလုပ်သူများကိုသာလျှင် ထိုက်သည့်အားလျော်စွာ အရေးယူတော်မူသည်သာ ဖြစ်သည်။ သို့ဖြစ်ရာ အမိန့်တော်များကို သွေဖည်ငြင်းဆန် မနာခံသောသူများမှအပ အသူအရေးယူတော်မူခြင်းကို ခံရအံ့နည်း။

# မုဟမ္မဒ်ကဏ္ဍ

سُورَةُ مُحَمَّدٍ

ဤကဏ္ဍသည် တမန်တော် မုဟမ္မဒ်(ဆွာလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)၏အကြောင်း ပါဝင်သော ကဏ္ဍမည်၏။ မဒီနာမြို့၌ ကျရောက်ခဲ့၏။ ဤကဏ္ဍတွင် အာယတ်တော်ပေါင်း (၃၈)ပါး၊ ရုကူအ် အပိုဒ်ပေါင်း(၄)ပိုဒ်၊ အသီးသီးပါရှိ၏။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ ○

အနန္တ ကရုဏာတော်ရှင် ဖြစ်တော်မူသော၊ အစဉ်သနားကြင်နာ သနားညှာတာတော်မူသော၊ အလ္လာဟ်အရှင်မြတ်၏ နာမံတော်ဖြင့် အစပြုပါ၏။

اَلَّذِيْنَ كَفَرُوْا وَصَدُّوْا عَنْ سَبِيْلِ اللّٰهِ اَضَلَّ اَعْمَالَهُمْ ①

၁။ အကြင်သူတို့သည် သွေဖည်ငြင်းပယ်ခဲ့ကြကုန်၏။ ၎င်းပြင် ထိုသူတို့သည် အလ္လာဟ်အရှင်မြတ်၏ လမ်းတော်မှ ပိတ်ပင်တားဆီးခဲ့ကြကုန်၏။ ထိုအရှင်မြတ်သည် ၎င်းတို့၏ ကျင့်မူ ဆောင်ရွက်ချက်များကို အချည်းနှီး ဖြစ်စေတော်မူမည်။

وَالَّذِيْنَ اٰمَنُوْا وَعَمِلُوا الصّٰلِحٰتِ وَاٰمَنُوْا بِمَا نُزِّلَ عَلٰى مُحَمَّدٍ وَّهُوَ الْحَقُّ مِنْ رَّبِّهِمْ ۙ كَفَّرَ عَنْهُمْ سَيِّاٰتِهِمْ وَاَصْلَحَ بَالَهُمْ ②

၂။ သို့ရာတွင် အကြင်သူတို့သည် သက်ဝင်ယုံကြည်ခဲ့ကြ၏။ ကောင်းမှုများကို ကျင့်မူ ဆောက်တည်ခဲ့ကြ၏။ (နဗီတမန်တော်)မုဟမ္မဒ်၏အပေါ်၌ ချပေးတော်မူခြင်းခံခဲ့ရသည့်အရာကို စင်စစ် ထိုအရာသည် ၎င်းတို့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်အထံတော်မှ (ချပေးခြင်းခံရသော) အမှန်တရားပင် ဖြစ်သည်ဟု ယုံကြည်ခဲ့ကြ၏။ ထိုအရှင်မြတ်သည် ၎င်းတို့၏မကောင်းမှုများကို ၎င်းတို့မှ ပပျောက်စေတော်မူမည့်ပြင် ၎င်းတို့၏ အခြေအနေကိုလည်း ကောင်းအောင် ပြုပြင်ပေးတော်မူပေမည်။

ذٰلِكَ بِاَنَّ الَّذِيْنَ كَفَرُوا اتَّبَعُوا الْبَاطِلَ وَاَنَّ الَّذِيْنَ اٰمَنُوْا

၃။ ဤသို့ဖြစ်ရခြင်းမှာ ကာဖိရ် သွေဖည်ငြင်းပယ်သောသူတို့သည် အမှားကို လိုက်နာခဲ့ကြသောကြောင့်လည်းကောင်း၊ 'မုအ်မင်န်' သက်ဝင်ယုံကြည်သူတို့

اتَّبَعُوا الْحَقَّ مِن رَّبِّهِمْ ۚ كَذَٰلِكَ يَضْرِبُ اللَّهُ لِلنَّاسِ أَمْثَالَهُمْ ﴿٣﴾

မှာ အမှန်တရားကို လိုက်နာခဲ့ကြသောကြောင့်လည်းကောင်း၊ ဖြစ်ပေသည်။ အလ္လာဟ်အရှင်မြတ်သည် ဤနည်းအတိုင်းပင် လူတို့၏အကျိုးငှာ ၎င်းတို့၏ အခြေအနေများကို ခိုင်းနှိုင်း မိန့်ကြားထားတော်မူပေသတည်း။

فَإِذَا لَقِيتُمُ الَّذِينَ كَفَرُوا فَضَرْبَ الرِّقَابِ حَتَّىٰ إِذَا أَثْخَنتُمُوهُمْ فَشُدُّوا الْوَثَاقَ فَإِمَّا مَنًّا بَعْدُ وَإِمَّا فِدَاءً

၄။ ယခုသော် အသင်တို့သည် 'ကာဖိရ်'သွေဖည်ငြင်းပယ်သော သူတို့နှင့်ရင်ဆိုင် တွေ့ကြသောအခါ လည်ကုပ်များကို ခုတ်ဖြတ်ကြလေကုန်။ နောက်ဆုံးတွင် အသင်တို့သည် ၎င်းတို့အား ကောင်းစွာသတ်ဖြတ်ခဲ့ကြပြီးသောအခါ သုံ့ပန်းများကို ကြိုးများဖြင့် ကောင်းစွာ တုပ်နှောင်ကြလေကုန်။ ထို့နောက်တစ်ဖန် (အသင်တို့သည်) ကျေးဇူးပြုခြင်းအားဖြင့် (လျော်ကြေးမယူဘဲ ပြန်လွှတ်ခြင်းကို)သော်လည်းကောင်း၊ လျော်ကြေးယူ၍ (ပြန်လွှတ်)ခြင်းကိုသော်လည်းကောင်း၊ (ပြုနိုင်ခွင့်ရှိ၏၊) [၁]

(၁) ဆိုလိုသည်ကား - အမှန်နှင့် အမှားသည် ပြိုင်ဆိုင်နေခဲ့သည်သာ ဖြစ်သည်။ အစဉ် ပြိုင်ဆိုင်နေမည်သာဖြစ်သည်။ သို့ဖြစ်ရာ မွတ်စ်လင်မ်များသည် မလွဲမရှောင်သာသည့်အဆုံး၌ ကာဖိရ်များနှင့် ဂျိဟာဒ် ပြိုင်ဆိုင်တိုက်ခိုက်ကြလျှင် ဖွဲသတ္တိရှိစွာဖြင့် တိုက်ခိုက်ကြရမည်။

ကာဖိရ်အကြီးအကဲများကို မသုတ်သင် မရှင်းလင်းနိုင်သမျှ ကာလပတ်လုံး ကာဖိရ်အုပ်စုကို မဖြိုခွဲနိုင်သမျှ ကာလပတ်လုံး၊ ဓမ္မန္တရာယ်များ၏ရန်စွယ် ကျိုးမည် မဟုတ်ရာ။မွတ်စ်လင်မ်များသည် ကာဖိရ်များကို တိုက်ခိုက်ရာတွင် စိုးစဉ်မျှ တာဝန်မပျက်ကွက်ကြရာ သတ္တိမကြောင်ကြရာ၊ မတွေဝေကြရာ၊ သို့လော သို့လော မဖြစ်ကြရာ။

ကာဖိရ်များအား ကောင်းစွာ တိုက်ခိုက်ချေမှုန်းပြီးနောက် ကာဖိရ်များ၏အင်အားစု ပြိုကွဲပြီး မွတ်စ်လင်မ်တို့၏ အရှိန်အဝါ လွှမ်းမိုးလာသည့်အခါတွင် ကာဖိရ်များအား ဖမ်းဆီးချုပ်နှောင်ထားခြင်းသည်ပင် လုံလောက်ပေသည်။ ဤအကြောင်းကို ကုရ်အာန် (၈း၆၇) တွင်လည်း မိန့်ဆိုထားတော်မူသည်။ ယင်းသို့ ဖမ်းဆီးချုပ်နှောင်ထားခြင်းအားဖြင့် ကာဖိရ်များအဖို့ သတိသံဝေဂလည်း ဖြစ်နိုင်လေသည်။

မွတ်စ်လင်များထံတွင် နီးကပ်စွာ နေထိုင်ကြရသည့်အတွက် ကာဖိရ်များသည် မွတ်စ်လင်မ်တို့၏ ဘဝအခြေအနေနှင့် အစ္စလာမ်၏ အဆုံးအမဩဝါဒများကို လေ့လာခွင့်လည်း ရရှိကြပေမည်။

ယင်းသို့ဖြင့် တဖြည်းဖြည်း အမြင်မှန်ရကာ၊ နောက်ဆုံးတွင် အစ္စလာမ်၏အမှန်တရားကို လက်ခံလာကြပေမည်။ သို့တည်းမဟုတ် မွတ်စ်လင်မ်များသည် အခြေအနေအရ သင့်လျော်သည်ဟု ထင်မြင် ➤➤

حَتّٰى تَضَعَ الْحَرْبُ اَوْزَارَهَا ۛ ذٰلِكَ ۛ وَلَوْ يَشَآءُ اللّٰهُ لَانْتَصَرَ مِنْهُمْ وَلٰكِنْ لِّيَبْلُوَا۟ بَعْضَكُمْ بِبَعْضٍ ۗ وَالَّذِيْنَ قُتِلُوْا فِيْ سَبِيْلِ اللّٰهِ فَلَنْ يُّضِلَّ اَعْمَالَهُمْ ④

စစ်မက်တိုက်ခိုက်မှုသည် လက်နက်ချသည့် တိုင်အောင် (၎င်းတို့နှင့်ပတ်သက်၍ အမိန့်တော်သည်) ဤအတိုင်း ဖြစ်၏။ စစ်စစ်သော်ကား အကယ်၍သာ အလ္လာဟ်အရှင်မြတ် အလိုရှိတော်မူပါလျှင် (စစ်မက် တိုက်ခိုက်ရန် အမိန့်ထုတ်ပြန်ခြင်း ပြုတော်မမူဘဲ ကိုယ်တော်တိုင်) ၎င်းတို့အား လက်စားချေ အပြစ်ပေး တော်မူခဲ့မည်သာ။ သို့ရာတွင် ထိုအရှင်မြတ်သည် အသင်တို့အနက် အချို့ကို အချို့ဖြင့် စမ်းသပ်တော် မူအံ့သောငှာ (စစ်တိုက်ရန်အမိန့်တော်ကို ထုတ်ပြန်တော် မူခဲ့၏။) အမှန်သော်ကား အလ္လာဟ်အရှင်မြတ်၏ လမ်းတော်၌ သတ်ဖြတ်ခြင်းခံခဲ့ကြရသော သူတို့၏ ဆောင်ရွက်ချက်များကို ထိုအရှင်မြတ်သည် အလျှင်း အချည်းနှီး ဖြစ်စေတော်မူမည် မဟုတ်ပေ။

سَيَهْدِيْهِمْ وَيُصْلِحُ بَالَهُمْ ⑤

၅။ ထိုအရှင်မြတ်သည် အမှန်ပင် ၎င်းတို့အား လမ်း မှန်သို့ ပို့ပေးတော်မူသည့်ပြင် ၎င်းတို့၏ အခြေအနေကို လည်း ကောင်းအောင်ပြုပြင်၍ ပေးတော်မူပေမည်။

وَيُدْخِلُهُمُ الْجَنَّةَ عَرَّفَهَا لَهُمْ ⑥

၆။ ထိုမှတပါး ထိုအရှင်မြတ်သည် ၎င်းတို့အား 'ဂျန္နတ်' သုခဘုံသို့ ဝင်ရောက်စေတော်မူပေမည်။ ထိုအရှင်မြတ်သည် ယင်း 'ဂျန္နတ်' သုခဘုံကို ၎င်းတို့ အား (ကောင်းစွာ) သိထားစေတော်မူမည် ဖြစ်၏။

---

➤➤ ယူဆကြပါက လျော်ကြေးတစ်စုံတစ်ရာမယူဘဲ ကျေးဇူးပြုသည့်အနေဖြင့် ဖမ်းဆီးချုပ်နှောင်ထားသည့် ကာဖိရ် စစ်သုံ့ပန်းများအား ချုပ်နှောင်ထားခြင်းမှ လွတ်ငြိမ်းချမ်းသာခွင့်လည်း ပေးနိုင်ကြပေသည်။

သို့ကျေးဇူးပြုသောအားဖြင့် လွတ်ငြိမ်းချမ်းသာခွင့် ပေးကြပါက များစွာသော ကာဖိရ်များသည် မွတ်စ်လင်မ်တို့၏ကျေးဇူးနှင့် ကောင်းမြတ်သော စိတ်နေသဘောထားကို ရှုမြင်ပြီး မွတ်စ်လင်မ်တို့ဘက်သို့ ယိမ်းညွတ်ကောင်း ယိမ်းညွတ်လာကြပေမည်။ အစ္စလာမ်ကို မြတ်နိုးကောင်း မြတ်နိုးလာကြပေမည်။ သို့တည်း မဟုတ်၊ မွတ်စ်လင်မ်များသည် လျော်ကြေးယူ၍သော်လည်းကောင်း၊ စစ်သုံ့ပန်းချင်းလဲလှယ်သည့် အနေဖြင့်သော် လည်းကောင်း၊ ဖမ်းဆီးချုပ်နှောင်ထားသော ကာဖိရ် စစ်သုံ့ပန်းများကို လွှတ်ပေးလိုကလည်း လွှတ်ပေးနိုင်ကြပေ သည်။ ယင်းသို့ ပြုလုပ်ခြင်းဖြင့်လည်း အကျိုးအမျိုးမျိုး ထွက်နိုင်ပေသည်။

يَٰٓأَيُّهَا ٱلَّذِينَ ءَامَنُوٓا۟ إِن تَنصُرُوا۟ ٱللَّهَ يَنصُرْكُمْ وَيُثَبِّتْ أَقْدَامَكُمْ ۝٧

၇။ အို-'မုအ်မင်န်' သက်ဝင်ယုံကြည်သူအပေါင်း
တို့၊ အကယ်၍ အသင်တို့သည် အလ္လာဟ်အရှင်မြတ်
(၏သာသနာကိုလည်းကောင်း ထိုအရှင်မြတ်၏ ရစူလ်
တမန်တော်)အား(လည်းကောင်း၊) ကူညီကြလျှင် ထို
အရှင်မြတ်သည် အသင်တို့အား ကူညီတော်မူမည်။
ထိုမှတပါး ထိုအရှင်မြတ်သည် အသင်တို့၏ခြေများကို
(စစ်မက်တိုက်ခိုက်ရာ၌) မြဲမြံကြံ့ခိုင်စေတော်မူပေမည်။

وَٱلَّذِينَ كَفَرُوا۟ فَتَعْسًا لَّهُمْ وَأَضَلَّ أَعْمَٰلَهُمْ ۝٨

၈။ 'ကာဖိရ်' သွေဖည်ငြင်းပယ်သော သူတို့၌မူ
ပျက်စီးခြင်းသာလျှင် ရှိပေမည်။ ထိုမှတပါး ၎င်းတို့၏
ကျင့်မှု ဆောင်ရွက်ချက်များကိုလည်း ထိုအရှင်မြတ်
သည် အချည်းနှီး ဖြစ်စေတော်မူပေမည်။

ذَٰلِكَ بِأَنَّهُمْ كَرِهُوا۟ مَآ أَنزَلَ ٱللَّهُ فَأَحْبَطَ أَعْمَٰلَهُمْ ۝٩

၉။ ဤသည် အလ္လာဟ်အရှင်မြတ် ချပေးတော်
မူသော (အမိန့်ပညတ်တို့)ကို ၎င်းတို့ စက်ဆုပ်ခဲ့ကြ
သောကြောင့်ပင်။ သို့ဖြစ်ပေရာ ထိုအရှင်မြတ်သည်
၎င်းတို့၏ ကျင့်မှု ဆောင်ရွက်ချက်များကို အချည်းနှီး
ဖြစ်စေတော်မူခဲ့ပေသတည်း။

أَفَلَمْ يَسِيرُوا۟ فِى ٱلْأَرْضِ فَيَنظُرُوا۟ كَيْفَ كَانَ عَٰقِبَةُ ٱلَّذِينَ مِن قَبْلِهِمْ ۚ دَمَّرَ ٱللَّهُ عَلَيْهِمْ ۖ وَلِلْكَٰفِرِينَ أَمْثَٰلُهَا ۝١٠

၁၀။ ၎င်းတို့သည် ကမ္ဘာမြေဝယ် လှည့်လည်သွား
လာမှုကို မပြုခဲ့ကြလေသလော။ သို့ပြုခဲ့ကြလျှင်
၎င်းတို့သည် မိမိတို့အလျင် ရှိခဲ့ကြသော သူတို့၏
နောက်ဆုံးအကျိုးသည် မည်သို့မည်ပုံဖြစ်ခဲ့သည်ကို
မြင်ကြပေမည်။

အလ္လာဟ်အရှင်မြတ်သည် ထိုရှေးသူဟောင်းတို့
အား ဖျက်ဆီးတော်မူခဲ့၏။ စင်စစ်သော်ကား (ဤ)
'ကာဖိရ်' သွေဖည်ငြင်းပယ်သောသူတို့၌(လည်း)ယင်း
ကဲ့သို့သော အဖြစ်အပျက်များပင် ဖြစ်ပေါ်အံ့သတည်း။

ذٰلِكَ بِاَنَّ اللّٰهَ مَوْلَى الَّذِيْنَ اٰمَنُوْا وَاَنَّ الْكٰفِرِيْنَ لَا مَوْلٰى لَهُمْ ﴿١١﴾

၁၁။ ယင်းသို့ဖြစ်ခြင်းမှာ အလ္လာဟ်အရှင်မြတ်သည် 'မုအ်မင်န်' သက်ဝင်ယုံကြည်သူတို့၏ ကိစ္စအဝဝကို ဆောင်ရွက်ပေးတော်မူသော အရှင်ဖြစ်တော်မူသော ကြောင့်လည်းကောင်း၊ 'ကာဖိရ်' သွေဖည် ငြင်းပယ်သောသူတို့၌ ကိစ္စအဝဝကို ဆောင်ရွက်ပေးတော်မူသောအရှင်ဟူ၍ အလျှင်းမရှိသောကြောင့်လည်းကောင်း၊ ဖြစ်ပေသည်။

اِنَّ اللّٰهَ يُدْخِلُ الَّذِيْنَ اٰمَنُوْا وَعَمِلُوا الصّٰلِحٰتِ جَنّٰتٍ تَجْرِيْ مِنْ تَحْتِهَا الْاَنْهٰرُ ؕ وَالَّذِيْنَ كَفَرُوْا يَتَمَتَّعُوْنَ وَيَاْكُلُوْنَ كَمَا تَاْكُلُ الْاَنْعَامُ وَالنَّارُ مَثْوًى لَّهُمْ ﴿١٢﴾

၁၂။ ဧကန်မလွဲ အလ္လာဟ်အရှင်မြတ်သည် 'အီမာန်' သက်ဝင်ယုံကြည်ပြီးနောက် ကောင်းမှုများကို ကျင့်မှု ဆောက်တည်ကြကုန်သော သူတို့အား ဥယျာဉ်များသို့ ဝင်ရောက်စေတော်မူပေမည်။ ယင်းဥယျာဉ်များ၏ အောက်၌ ရေချောင်းများသည် စီးတွေလျက် ရှိကြပေမည်။

သို့ရာတွင် ကာဖိရ်သွေဖည်ငြင်းပယ်သောသူတို့မှာကား ခြေလေးချောင်းတိရစ္ဆာန်တို့ စား(သောက်)ကြသကဲ့သို့ပင် (လောကီဘဝ၌သာလျှင်) စည်းစိမ်ခံခြင်းကိုလည်းကောင်း၊ စား(သောက်၊ နေထိုင်)ခြင်းကိုလည်းကောင်း၊ ပြုလုပ်၍နေကြကုန်၏။ စင်စစ်မှာမူကား (ငရဲ)မီးသာလျှင် ၎င်းတို့၏ နေရာထိုင်ခင်း (အစစ်အမှန်) ဖြစ်ပေသည်။

وَكَاَيِّنْ مِّنْ قَرْيَةٍ هِيَ اَشَدُّ قُوَّةً مِّنْ قَرْيَتِكَ الَّتِيْۤ اَخْرَجَتْكَ ۚ اَهْلَكْنٰهُمْ فَلَا نَاصِرَ لَهُمْ ﴿١٣﴾

၁၃။ စင်စစ်သော်ကား မြောက်မြားစွာသော မြို့ရွာများမှာ၊ ခွန်အားဗလအားဖြင့် အသင့်အား နှင်ထုတ်ခဲ့သော အသင်၏မြို့ရွာထက်ပိုမို (ကြီးမား) ပြင်းထန်ခဲ့ကြကုန်၏။ ငါအရှင်မြတ်သည် ထိုမြို့ရွာများကို ဖျက်ဆီးတော်မူခဲ့၏။ ၎င်းတို့အား ကူညီစောင်မမည့်သူဟူ၍ တစ်ဦးတစ်ယောက်မျှပင် မရှိခဲ့ပေတကား။

أَفَمَنْ كَانَ عَلَىٰ بَيِّنَةٍ مِّن رَّبِّهِۦ كَمَن زُيِّنَ لَهُۥ سُوٓءُ عَمَلِهِۦ وَاتَّبَعُوٓا۟ أَهْوَآءَهُم ⑭

၁၄။ သို့ဖြစ်ပေရာ မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်အထံတော်မှ ထင်ရှားစွာသော သက်သေလက္ခဏာပေါ်၌ ရပ်တည်လျက်ရှိကြသော သူတို့သည် အကြင်သူတို့ကဲ့သို့ ဖြစ်ကြပါမည်လော။ ထိုသူတို့၏ မကောင်းမှုများမှာ ၎င်းတို့၏အမြင်၌ လှပတင့်တယ်အောင် ပြုလုပ်ခြင်းခံခဲ့ရလေ၏။ ထိုမှတပါး ထိုသူတို့သည် မိမိတို့၏စိတ်အလိုဆန္ဒများကို လိုက်နာခဲ့ကြကုန်၏။

مَّثَلُ الْجَنَّةِ الَّتِى وُعِدَ الْمُتَّقُونَ ۖ فِيهَآ أَنْهَٰرٌ مِّن مَّآءٍ غَيْرِ ءَاسِنٍ وَأَنْهَٰرٌ مِّن لَّبَنٍ لَّمْ يَتَغَيَّرْ طَعْمُهُۥ وَأَنْهَٰرٌ مِّنْ خَمْرٍ لَّذَّةٍ لِّلشَّٰرِبِينَ وَأَنْهَٰرٌ مِّنْ عَسَلٍ مُّصَفًّى ۖ وَلَهُمْ فِيهَا مِن كُلِّ الثَّمَرَٰتِ وَمَغْفِرَةٌ مِّن رَّبِّهِمْ ۖ كَمَنْ هُوَ خَٰلِدٌ فِى النَّارِ وَسُقُوا۟ مَآءً حَمِيمًا فَقَطَّعَ أَمْعَآءَهُمْ ⑮

၁၅။ 'မွတ္တကီ' သူတော်စင်များ ကတိပေးခြင်းကို ခံကြရသော 'ဂျန္နတ်' သုခဘုံ၏အခြေအနေမှာ(ဤသို့ ဖြစ်၏။) ယင်း'ဂျန္နတ်' သုခဘုံ၌ အနံ့ အရသာ မပျက်သော ရေချောင်းများသည်လည်းကောင်း၊ အရသာ ပြောင်းလဲသွားခြင်းမရှိသော နို့ချောင်းများသည် လည်းကောင်း၊ သောက်သုံးသူတို့အဖို့ အထူးအနံ့ အရသာကောင်းသော အရက်ချောင်းများသည်လည်း ကောင်း၊ ကြည်လင်သန့်ရှင်းစင်ကြယ်သော ပျားရည် ချောင်းများသည်လည်းကောင်း၊ ရှိကြပေမည်။

ထိုမှတပါး ၎င်းတို့အဖို့ ယင်း'ဂျန္နတ်'သုခဘုံ၌ သစ်သီးဝလံမျိုးစုံတို့သည်လည်း ရှိပေမည်။ ထိုမှတပါး ထိုသူတို့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ် အထံတော်မှ လွတ်ငြိမ်းချမ်းသာခွင့်သည်လည်း ရှိပေမည်။ (သို့ဖြစ်ပေရာ ထိုသူတို့သည်) အကြင်သူတို့ ကဲ့သို့ (ဖြစ်နိုင်ကြပါမည်လော။) ထိုသူတို့သည် မီးထဲ၌ အမြဲထာဝရ နေထိုင်ကြအံ့သော သူများပင် ဖြစ်ကြကုန်၏။ ထိုမှတပါး ၎င်းတို့သည် ကျိုက်ကျိုက် ဆူလျက်ရှိသောရေ တိုက်ကျွေးခြင်းကို ခံကြရမည် ဖြစ်ပေရာ ထိုရေမှာမူကား ၎င်းတို့၏ အူသိမ်၊ အူမ များကို အပိုင်းပိုင်း ဖြတ်စေအံ့သတည်း။

وَمِنْهُمْ مَّنْ يَّسْتَمِعُ اِلَيْكَ ۚ حَتّٰٓى اِذَا خَرَجُوْا مِنْ عِنْدِكَ قَالُوْا لِلَّذِيْنَ اُوْتُوا الْعِلْمَ مَاذَا قَالَ اٰنِفًا ۗ اُولٰٓئِكَ الَّذِيْنَ طَبَعَ اللّٰهُ عَلٰى قُلُوْبِهِمْ وَ اتَّبَعُوْٓا اَهْوَآءَهُمْ ﴿١٦﴾

၁၆။ စင်စစ်သော်ကား ၎င်းတို့တွင် အသင့်ဘက်သို့ နားစွင့်၍နေကြသူများလည်း ရှိကြကုန်၏။ နောက်ဆုံးတွင် အသင့်ထံမှ ထွက်ခဲ့ကြသောအခါ ၎င်းတို့သည် အသိပညာကို ချီးမြှင့်ခံကြရသောပုဂ္ဂိုလ်တို့အား ယခုဤသူ(တမန်တော်မြတ်သည်) မည်သည့်စကား ပြောဆိုခဲ့ပါသနည်းဟု မေးမြန်းကြကုန်၏။ ထိုသူတို့သည် ပင်လျှင် အကြင်သူများတည်း။ အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့၏ စိတ်နှလုံးများအပေါ်၌ တံဆိပ်ခတ်နှိပ်ထားတော်မူ၏။ ထို့ပြင် ၎င်းတို့သည် မိမိတို့၏ စိတ်အလိုဆန္ဒများကို လိုက်နာကြကုန်၏။ ၁

وَالَّذِيْنَ اهْتَدَوْا زَادَهُمْ هُدًى وَّاٰتٰهُمْ تَقْوٰىهُمْ ﴿١٧﴾

၁၇။ သို့ရာတွင် တရားလမ်းမှန်ကို ရရှိခဲ့ကြသောသူတို့ကိုမူကား ထိုအရှင်မြတ်သည် ပိုမို၍ပင် တရားလမ်းမှန်ကို ပြသတော်မူ၏။ ထိုမှတပါး ၎င်းတို့အား တာကဝါတရားကိုလည်း ချီးမြှင့်ပေးသနားတော်မူ၏။

---

(၁) အထက်တွင် မုအ်မင်န်များနှင့် ကာဖိရ်များအကြောင်း ပါရှိ၏။ ဤအာယတ်တော်တွင် မုနာဖစ်က်များအကြောင်းကို မိန့်ဆိုထားတော်မူသည်။ မုနာဖစ်က်များသည် အပေါ်ရံအားဖြင့် မွတ်စ်လင်မ် အယောင်ဆောင်ကာ အတွင်းသဘောအားဖြင့် အစ္စလာမ်ကို သွေဖည်သော ကာဖိရ်များသာ ဖြစ်ကြပေသည်။

မုနာဖစ်က်များသည် အပြင်ပန်းအားဖြင့် တမန်တော်မြတ် ရွတ်ဖတ်တော်မူသော အာယတ်တော်များနှင့် ဟောကြားတော်မူသော ဒေသနာတော်များကို နားထောင်ကြ၏။ ၎င်းတို့၏ နားထောင်ခြင်းမှာ အမြင်ခံနားထောင်ခြင်းသာဖြစ်သည်။ စိတ်ရောကိုယ်ပါ နားထောင်ကြသည်မဟုတ်၊ နားလည် သဘောပေါက်ကြသည်လည်း မဟုတ်၊ မှတ်သားထားကြသည်လည်းမဟုတ်။ ထို့အတွက် ၎င်းတို့သည် တမန်တော်မြတ်ထံမှ ပြန်ကြသောအခါ သက်ဆိုင်ရာ ပညာရှင်များအား 'ယခု ဤပုဂ္ဂိုလ် (တမန်တော်မြတ်)က အဘယ်စကား ပြောကြားပါသနည်း' ဟု ပြောဆိုမေးမြန်းကြ၏။

ဤသို့ ပြောဆိုမေးမြန်းခြင်းမှာ ကျွန်ုပ်တို့သည် တမန်တော်မြတ်၏ တရားများကို စိတ်ဝင်စားစွာ နားထောင်ကြသည်မဟုတ်၊ တမန်တော်မြတ်၏ တရားများမှာလည်း လေးစားဖွယ်ရာ မဟုတ်ဟူသော အတွင်းသဘောကို သရုပ်ဖော်ပြခြင်းပင်ဖြစ်သည်။ မုနာဖစ်က်များသည် အမှန်တရားကို သိပါလျက် မိမိတို့၏ စိတ်အလိုဆန္ဒများကိုသာ လိုက်နာကာ တမန်တော်မြတ်အား အတွင်းမှ သွေဖည်ကြသည်။ ယင်းသို့ ဆိုးမိုက်ကြခြင်းကြောင့်ပင် အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့၏ စိတ်နှလုံးသားများအပေါ်၌ တံဆိပ်ခတ်နှိပ်တော်မူခြင်းဖြစ်သည်။ ဤကား မည်သူ့မပြု မိမိမှုပင်။

فَهَلْ يَنظُرُونَ إِلَّا السَّاعَةَ أَن تَأْتِيَهُم بَغْتَةً ۖ فَقَدْ جَاءَ أَشْرَاطُهَا ۚ فَأَنَّىٰ لَهُمْ إِذَا جَاءَتْهُمْ ذِكْرَاهُمْ ﴿١٨﴾

၁၈။ စင်စစ် ၎င်းတို့သည် ရုတ်တရက် မိမိတို့ထံ 'ကိယာမတ်' ရှင်ပြန်ထမည့်အချိန်ကာလ ဆိုက်ရောက်လာခြင်းကိုသာလျှင် မျှော်လင့်စောင့်ဆိုင်း၍ နေကြကုန်၏။ သို့ဖြစ်လျှင် ဧကန်မလွဲ ယင်းရှင်ပြန်ထမည့်အချိန်ကာလ၏ နိမိတ်လက္ခဏာများမှာမူကား ရောက်လာခဲ့ချေပြီ။ သို့ဖြစ်ပေရာ ယင်းရှင်ပြန်ထမည့် အချိန်ကာလသည် ၎င်းတို့ထံ ရောက်လာသောအခါ ၎င်းတို့၌ သတိရခြင်းသည် အဘယ်မှာလျှင်အကျိုးရှိတော့အံ့နည်း။

فَاعْلَمْ أَنَّهُ لَا إِلَٰهَ إِلَّا اللَّهُ وَاسْتَغْفِرْ لِذَنبِكَ وَلِلْمُؤْمِنِينَ وَالْمُؤْمِنَاتِ ۗ وَاللَّهُ يَعْلَمُ مُتَقَلَّبَكُمْ وَمَثْوَاكُمْ ﴿١٩﴾

၁၉။ သို့ဖြစ်ပေရာ (အို-နဗီတမန်တော်၊) အလ္လာဟ်အရှင်မြတ်မှတပါး ဆည်းကပ်ကိုးကွယ်ရာအရှင်ဟူ၍ အလျှင်း မရှိကြောင်း ကောင်းစွာ *သိရှိယုံကြည်ထားပါလေ။* [၁] ထို့ပြင် အသင်သည် မိမိ၏ ချို့တဲ့မှုနှင့် စပ်လျဉ်း၍လည်းကောင်း၊ 'မုအ်မင်န်' သက်ဝင် ယုံကြည်သူ ယောကျ်ား၊ မိန်းမတို့အဖို့လည်းကောင်း၊ လွတ်ငြိမ်းချမ်းသာခွင့်ကို ပန်ကြားအသနားခံပါလေ။ [၂] အမှန်စင်စစ်မှာကား အလ္လာဟ်အရှင်မြတ်သည် အသင်တို့ (အားလုံးတို့)၏လှည့်လည်သွားလာမှုကိုလည်းကောင်း၊ အသင်တို့၏ ခိုလှုံရာကိုလည်းကောင်း၊ ကောင်းစွာ သိရှိတော်မူပေသတည်း။

---

(၁) 'အလ္လာဟ်အရှင်မြတ်မှတစ်ပါး အခြားကိုးကွယ်ရာဟူ၍ အလျှင်းမရှိသည်ကို အသင်ယုံကြည်လေ' ဟူသော အာယတ်တော်သည် လူသားတိုင်းအား ရည်ညွှန်းမိန့်ဆိုထားတော်မူသော အာယတ်တော် ဖြစ်သည်။

အကယ်၍ ဤအာယတ်တော်သည် တမန်တော်မြတ်အား သီးသန့်ရည်ညွှန်းမိန့်ကြားထားတော်မူသော အာယတ်တော်ဖြစ်ပါက ဤအာယတ်တော်၏ အလိုသဘောမှာ တမန်တော်မြတ်သည် ယခု ယုံကြည်ထားသည့် အတိုင်း (အလ္လာဟ်အရှင်မြတ်မှတစ်ပါး အခြားကိုးကွယ်ရာဟူ၍ အလျှင်းမရှိ ဟူသော) ဤသည့် ယုံကြည်ချက် အပေါ်၌ပင် ထာဝစဉ် ရပ်တည်နေပါလေဟူ၍ ဖြစ်ပေမည်။

ဤအာယတ်တော်နှင့် ဤအာယတ်တော် အလျင်လာရှိသော အာယတ်တော်ကို ဆက်စပ်အနက်ကောက်သည်ရှိသော် ကိယာမတ်ဖြစ်ပေါ်လာပြီးသည့်နောက်ပိုင်းတွင် မည်သည့်အီမာန် ယုံကြည်မှု ဝန်ချတောင်းပန်မှုမျှ မည်သူ့အားမျှ အကျိုးပြုမည် မဟုတ်တော့ပေ။ သို့ဖြစ်ရာ လူတိုင်းလူတိုင်းသည် ကိယာမတ် မဖြစ်ပေါ်မီ အလျင်၊ မှန်ကန်သောအသိတရား၊ မှန်ကန်သောယုံကြည်ချက်ကို ရယူထားရမည်သာတည်း။

وَيَقُولُ الَّذِينَ آمَنُوا لَوْلَا نُزِّلَتْ سُورَةٌ فَإِذَا أُنْزِلَتْ سُورَةٌ مُحْكَمَةٌ وَذُكِرَ فِيهَا الْقِتَالُ رَأَيْتَ الَّذِينَ فِي قُلُوبِهِمْ مَرَضٌ يَنْظُرُونَ إِلَيْكَ نَظَرَ الْمَغْشِيِّ عَلَيْهِ مِنَ الْمَوْتِ فَأَوْلَى لَهُمْ ﴿٢٠﴾

၂၀။ စင်စစ်သော်ကား 'မုအ်မင်န်' သက်ဝင် ယုံကြည်သူတို့က 'စူရဟ်' ကဏ္ဍတစ်ခုခု အဘယ်ကြောင့် မကျရောက်ပါသနည်းဟု ပြောဆို (တောင့်တ)ခဲ့ကြကုန်၏။ သို့ရာတွင် ရှင်းလင်းပြတ်သားသော 'စူရဟ်' ကဏ္ဍတစ်စုံတစ်ရာသည် ချပေးခြင်းကိုခံရ၍ ယင်း'စူရဟ်' ကဏ္ဍ၌ စစ်မက်တိုက်ခိုက်ရန်အကြောင်း ဖော်ပြပါရှိသောအခါ စိတ်နှလုံးများတွင် ရောဂါဝေဒနာရှိသောသူတို့သည် သေဘေးကို စိုးရိမ်သောကြောင့် မိန်းမောနေသူများ၏အကြည့်မျိုးနှင့် အသင့်ဘက်သို့ ကြည့်နေကြသည်ကို အသင်တွေ့မြင်ရပေမည်။ သို့ဖြစ်ပေရာ ၎င်းတို့၌ ပျက်စီးမှုရှိပေမည်။

طَاعَةٌ وَقَوْلٌ مَعْرُوفٌ فَإِذَا عَزَمَ الْأَمْرُ فَلَوْ صَدَقُوا اللَّهَ لَكَانَ خَيْرًا لَهُمْ ﴿٢١﴾

၂၁။ (၎င်းတို့၏) *လိုက်နာမှုသည်လည်းကောင်း၊ ပြောဆိုမှုသည်လည်းကောင်း၊ သိရှိပြီးဖြစ်၏။* [၁] သို့တစေလည်း ၎င်းတို့သည် အရေးကိစ္စအလုံးစုံပြဋ္ဌာန်းပြီး ဖြစ်သောအခါ၌လည်း အကယ်၍ အလ္လာဟ်အရှင်မြတ်နှင့် ပတ်သက်၍ သစ္စာစောင့်သိကြလျှင် ၎င်းတို့အဖို့ အကောင်းဆုံးပင် ဖြစ်ခဲ့ပေမည်။ [၂]

---

(၂) တမန်တော်မြတ်သည် 'မအ်ဆူမ်' ဖြစ်တော်မူသည်။ အပြစ်ဟူဟူသမျှနှင့် ကင်းစင်တော်မူသည်။ သို့ပါသော်လည်း နေ့စဉ်နှင့်အမျှ အကြိမ်ပေါင်း (၁၀၀)တိတိ လွတ်ငြိမ်းချမ်းသာခွင့် ပန်ကြားလေ့ ရှိတော်မူသည်။

တမန်တော်မြတ်အား 'မအ်ဆူမ်' ဖြစ်တော်မူပါလျက်၊ မိမိ၏ ချို့တဲ့မှုနှင့်စပ်လျဉ်း၍ လွတ်ငြိမ်းချမ်းသာခွင့် ပန်ကြားရန် မိန့်ကြားထားတော်မူခြင်းမှာ တမန်တော်မြတ်၏ နောက်လိုက်တပည့်သား တို့သည် တမန်တော်မြတ်အားကြည့်၍ တမန်တော်မြတ်၏လမ်းစဉ်ကို ဖဝါးခြေထပ် လိုက်နာကျင့်သုံးကြရန်ပင် ဖြစ်သည်။

တမန်တော်မြတ်သည် ဆုတောင်းပြည့် တမန်တော် ဖြစ်တော်မူသည်။ ယင်းသို့သော တမန်တော်မြတ်အား မိမိနှင့်တကွ မုအ်မင်န်အမျိုးသား၊ အမျိုးသမီးအားလုံးတို့အဖို့ လွတ်ငြိမ်းချမ်းသာခွင့် ပန်ကြားရန် မိန့်ကြားထားတော်မူခြင်းမှာ၊ တမန်တော်မြတ်၏ နောက်လိုက်တပည့်သားတို့အပေါ်၌ အလ္လာဟ်အရှင်မြတ်ဘက်တော်မှ အထူးမြှောက်စားတော်မူခြင်း တစ်ရပ်ပင်။

(၁) မုနာဖစ်က်များသည် စေတနာမပါဘဲ အခြေအနေအရ အယောင်ဆောင်နေကြသော မွတ်စ်လင်မ်များသာဖြစ်ကြရာ အခြေအနေအရ စေတနာမပါ၊ အယောင်ဆောင်ကာ မွတ်စ်လင်မ်များနှင့် ရေလိုက်ငါးလိုက် အလိုက်အထိုက် ပြောဆိုနေခဲ့ကြ၏။ ပရိယာယ်အမျိုးမျိုး သုံးနေခဲ့ကြ၏။ ➢➢

فَهَلْ عَسَيْتُمْ إِنْ تَوَلَّيْتُمْ أَنْ تُفْسِدُوا فِي الْأَرْضِ وَتُقَطِّعُوا أَرْحَامَكُمْ ﴿٢٢﴾

၂၂။ သို့ဖြစ်ပေရာ အကယ်၍ အသင်တို့သည် (စစ်မက်တိုက်ခိုက်ခြင်းမှ) လွှဲရှောင်ခဲ့ကြသည်ရှိသော် ကမ္ဘာမြေဝယ် ဆူပူသောင်းကျန်းနိုင်ကြမည်ဟူ၍လည်းကောင်း၊ မိမိတို့အချင်းချင်း သားချင်းတော်စပ်မှုကို ဖြတ်တောက်နိုင်ကြမည်ဟူ၍လည်းကောင်း၊ မျှော်လင့်ကြလေသလော။

أُولَٰئِكَ الَّذِينَ لَعَنَهُمُ اللَّهُ فَأَصَمَّهُمْ وَأَعْمَىٰ أَبْصَارَهُمْ ﴿٢٣﴾

၂၃။ ထိုသူတို့သည် အကြင်သူများပင်။ အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့အား ကရုဏာတော်မှ ကင်းဝေးစေတော်မူခဲ့၏။ တစ်ဖန် ၎င်းတို့အား နားပင်းစေတော်မူခဲ့၏။ ထို့ပြင် ၎င်းတို့၏မျက်စိများကို ကန်းစေတော်မူခဲ့၏။

أَفَلَا يَتَدَبَّرُونَ الْقُرْآنَ أَمْ عَلَىٰ قُلُوبٍ أَقْفَالُهَا ﴿٢٤﴾

၂၄။ သို့ပါလျက် ၎င်းတို့သည် ကုရ်အာန်ကျမ်းတော်မြတ်ကို စေ့ငုစွာ စဉ်းစားဆင်ခြင်သုံးသပ်ခြင်း မပြုကြလေသလော။ သို့တည်းမဟုတ် (၎င်းတို့၏) *စိတ်နှလုံးများပေါ်၌ သော့ခလောက်များ(ခတ်ထားလျက်) ရှိနေသလော။* [၁]

---

➤➤ သို့ရာတွင်၎င်းတို့၏စကားနှင့် ၎င်းတို့၏ နာခံမှုများသည် မရိုးသားသည်မှာ၊ စေတနာမပါသည်မှာ သိရှိပြီးပင် ဖြစ်ခဲ့ပေသည်။ အထူးသဖြင့် ဂျိဟာဒ်ပြုရန် အမိန့်တော် ကျရောက်လာသည့်အခါတွင်မူ မုနာဖစ်က်တို့၏ အယောင်ဆောင်မှုသည် ဘွင်းဘွင်းကြီးပေါ်လာခဲ့လေသည်။

(၂) ဂျိဟာဒ်ပြုလုပ်ရန် အမိန့်တော်ကျရောက်လာပြီးနောက် စစ်မက်ပြိုင်ဆိုင် တိုက်ခိုက်ရန် အစစအရာရာ အသင့်ဖြစ်သွားသည့် အချိန်တွင်လည်း အကယ်၍ မုနာဖစ်က်များသည် မိမိတို့နှုတ်မှ ကျွန်ုပ်တို့သည် အလ္လာဟ်အရှင်မြတ်အား ယုံကြည်ပါသည်ဟု ဖွင့်ဟပြောဆိုနေကြသည့်အတိုင်း စိတ်တွင်းမှလည်း အမှန်တကယ် ယုံကြည်လာကြပါက၊ ထိုအရှင်မြတ်၏ အမိန့်တော်များကိုလည်း အထူးသဖြင့် ဂျိဟာဒ်ပြုလုပ်ရန် အမိန့်တော်ကို စိတ်ရောကိုယ်ပါ လိုက်နာကျင့်သုံးကြပါက ၎င်းတို့အဖို့ အကောင်းဆုံးပင်ဖြစ်ပေသည်။

(၁) ပထမသော် မုနာဖစ်က်များသည် ကုရ်အာန်ကျမ်းလာ ဒေသနာတော်များကို ရိုးသားစွာပင် မစဉ်းစားမဆင်ခြင်ခဲ့ကြပေ။ သို့တည်းမဟုတ်၊ ၎င်းတို့၏ ဆိုးသွမ်း၊ ယုတ်မာမှုများကြောင့် ၎င်းတို့၏ စိတ်နှလုံးသားများ အပေါ်၌ သော့ခလောက်များ ခတ်လျက်ရှိခဲ့ပေသည်။ ထို့အတွက်ကြောင့် ၎င်းတို့သည် မည်သည့်အမှန်တရားကိုမျှ ထွင်းဖောက်မမြင်နိုင်ခဲ့ကြပေ။

အကယ်၍သာ မုနာဖစ်က်များသည် ကုရ်အာန်ကျမ်းလာ ဒေသနာတော်များကို ရိုးသားစွာ ➤➤

إِنَّ الَّذِينَ ارْتَدُّوا عَلَىٰٓ أَدْبَارِهِم مِّنۢ بَعْدِ مَا تَبَيَّنَ لَهُمُ الْهُدَى ۙ الشَّيْطَٰنُ سَوَّلَ لَهُمْ ۖ وَأَمْلَىٰ لَهُمْ ﴿٢٥﴾

၂၅။ ဧကန်စင်စစ် အကြင်သူတို့သည် ၎င်းတို့အဖို့ တရားလမ်းမှန် ထင်ရှားခဲ့ပြီးနောက်တွင် ကျောခိုင်း၍ ပြန်လှည့်သွားကြကုန်၏။ 'ရှိုင်တွာန်' မိစ္ဆာကောင်သည် ထိုသူတို့အား ဖြားယောင်းခဲ့လေ၏။ ထိုမှတပါး ယင်း 'ရှိုင်တွာန်' မိစ္ဆာကောင်သည် ၎င်းတို့အား မက်လုံးပြခဲ့လေ၏။

ذَٰلِكَ بِأَنَّهُمْ قَالُوا لِلَّذِينَ كَرِهُوا مَا نَزَّلَ اللَّهُ سَنُطِيعُكُمْ فِي بَعْضِ الْأَمْرِ ۖ وَاللَّهُ يَعْلَمُ إِسْرَارَهُمْ ﴿٢٦﴾

၂၆။ ထိုသို့ဖြစ်ရခြင်းမှာ ၎င်းတို့သည် အလ္လာဟ်အရှင်မြတ် ချပေးသနားတော်မူခဲ့သော အမိန့်တော်များကို စက်ဆုပ်ကြသောသူတို့အား ဧကန်အမှန် ကျွန်ုပ်တို့သည် အချို့သောအရေးကိစ္စများ၌ အသင်တို့၏စကားကို လိုက်နာကြမည်ဟု ပြောဆိုခဲ့ကြသောကြောင့်ပင်။ စစ်စစ်သော်ကား အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့၏လျှို့ဝှက်စွာပြောဆိုမှုကို ကောင်းစွာ သိရှိတော်မူ၏။

فَكَيْفَ إِذَا تَوَفَّتْهُمُ الْمَلَٰٓئِكَةُ يَضْرِبُونَ وُجُوهَهُمْ وَأَدْبَٰرَهُمْ ﴿٢٧﴾

၂၇။ သို့ရာတွင် 'မလာအိကဟ်' ကောင်းကင်တမန်များသည် ထိုသူတို့၏မျက်နှာများကိုလည်းကောင်း၊ ထိုသူတို့၏ကျောက်ကုန်းများကိုလည်းကောင်း၊ ရိုက်ကြလျက် ထိုသူတို့၏ အသက်ဇီဝိန် နှုတ်သိမ်းကြသောအခါ (ထိုသူတို့သည်) မည်သည့်အဖြစ်သို့ (ရောက်ရှိကြအံ့နည်း)။

ذَٰلِكَ بِأَنَّهُمُ اتَّبَعُوا مَآ أَسْخَطَ اللَّهَ وَكَرِهُوا رِضْوَٰنَهُۥ فَأَحْبَطَ

၂၈။ ထိုသို့ဖြစ်ရခြင်းမှာ ထိုသူတို့သည် အလ္လာဟ်အရှင်မြတ် မနှစ်မြို့သောနည်းလမ်းကို လိုက်နာခဲ့ကြသောကြောင့်လည်းကောင်း၊ ထိုအရှင်မြတ်၏ နှစ်မြို့မှုကို စက်ဆုပ်ခဲ့သောကြောင့်လည်းကောင်း၊ ဖြစ်ပေသည်။

➤➤ စဉ်းစားဆင်ခြင် မြော်မြင်နိုင်ခဲ့ကြပါက၊ ၎င်းတို့သည် အလ္လာဟ်အရှင်မြတ်၏လမ်းတော်၌ ဂျိဟာဒ် ပြုလုပ်ခြင်းအားဖြင့် နှစ်ဘဝလုံးတွင် အသို့အကျိုးရှိသည်များကို အလွယ်တကူ သိရှိသဘောပေါက်ခဲ့ကြပေမည်။

أَعْمَالَهُمْ ﴿٢٨﴾

သို့ဖြစ်ပေရာ ထိုအရှင်မြတ်သည် ၎င်းတို့၏ အပြုအမူ ဆောင်ရွက်ချက်တို့ကို အချည်းနှီးပင် ဖြစ်စေတော်မူခဲ့ပေသတည်း။

أَمْ حَسِبَ الَّذِينَ فِي قُلُوبِهِم مَّرَضٌ أَن لَّن يُخْرِجَ اللَّهُ أَضْغَانَهُمْ ﴿٢٩﴾

၂၉။ စိတ်နှလုံးများတွင် ရောဂါဝေဒနာရှိသောသူတို့သည် ၎င်းတို့၏ ရန်ငြိုးထားမှုများကို ငါအရှင်မြတ်သည် အလျှင်း ထုတ်ဖော်တော်မူမည်မဟုတ်ဟု ထင်မှတ်နေကြလေသလော။

وَلَوْ نَشَاءُ لَأَرَيْنَاكَهُمْ فَلَعَرَفْتَهُم بِسِيمَاهُمْ ۚ وَلَتَعْرِفَنَّهُمْ فِي لَحْنِ الْقَوْلِ ۚ وَاللَّهُ يَعْلَمُ أَعْمَالَكُمْ ﴿٣٠﴾

၃၀။ စင်စစ်သော်ကား အကယ်၍သာ ငါအရှင်မြတ်သည် အလိုရှိတော်မူပါလျှင် ငါအရှင်မြတ်သည် အသင့်အား ၎င်းတို့ကို (သိစေအံ့သောငှာ) အမှန်ပင် ပြသတော်မူပေမည်။ ထိုအခါ အသင်သည် မုချဧကန် ၎င်းတို့အား ၎င်းတို့၏ ရုပ်ရည်လက္ခဏာအမူအရာဖြင့် မုချ အတိအကျ သိရှိပေမည်။ ထိုမှတပါး အသင်သည် ၎င်းတို့အား (၎င်းတို့၏) စကားပြောဆိုပုံ စကား အသွားအလာဖြင့် (ယခုလည်း) အမှန်ပင် သိရှိပေမည်။ အမှန်စင်စစ်သော်ကား *အလ္လာဟ်အရှင်မြတ်သည် အသင်တို့၏ ပြုမူဆောင်ရွက်ချက်တို့ကို ကောင်းစွာ သိရှိတော်မူ၏။* ①

---

① အလ္လာဟ်အရှင်မြတ် အလိုတော်ရှိပါက တမန်တော်မြတ်အား မည်သူမည်ဝါသည် မုနာဖစ်က်ဖြစ်သည်ဟူ၍ အမည်နာမနှင့်တကွ အတိအကျ ပြသတော်မူနိုင်ပေသည်။ သို့ရာတွင် ယင်းသို့ အတိအကျ အထင်အရှား လက်တွေ့ ပြသတော်မူရန် မလိုသေး၍ ပြသတော်မမူခြင်းသာဖြစ်သည်။

သို့တစေလည်း အလ္လာဟ်အရှင်မြတ်သည် တမန်တော်မြတ်အား မျက်နှာရိပ်၊ မျက်နှာကဲ ခတ်နိုင်သော အလွန့်အလွန် ထက်မြက်ထွင်းဖောက် သိမြင်နိုင်သော အသိဉာဏ်အမြော်အမြင်ကို ချီးမြှင့်ထားတော်မူသည်ဖြစ်ရာ၊ တမန်တော်မြတ်သည် မုနာဖစ်က်များအား ၎င်းတို့၏ ရုပ်ရည်ကို ကြည့်တော်မူခြင်းဖြင့်ပင် သိရှိတော်မူနိုင်ပေသည်။

ထို့နောက် ၎င်းတို့၏ စကားပြောဆိုပုံကို ကြည့်တော်မူခြင်းအားဖြင့် ပို၍ပင် ပိုင်နိုင်စွာ သိရှိတော်မူပေမည်။ အဘယ်ကြောင့်ဆိုသော် မုနာဖစ်က်အယောင်ဆောင်ထားသူနှင့် 'မုခ်လိဆ်' ရိုးသားဖြောင့်မတ်သော၊ အတွင်းသဘောဖြူစင်သော၊ စိတ်စေတနာ သန့်ရှင်းသော မွတ်စ်လင်မ်တို့၏ ပြောပုံဆိုပုံသည် မိုးမြေတမျှ ကွာခြားလှပေသည်။ ➤➤

وَلَنَبۡلُوَنَّكُمۡ حَتّٰى نَعۡلَمَ الۡمُجٰهِدِيۡنَ مِنۡكُمۡ وَالصّٰبِرِيۡنَ ۙ وَنَبۡلُوَا۟ اَخۡبَارَكُمۡ ﴿۳۱﴾

၃၁။ ၎င်းပြင် ဧကန်မလွဲ ငါအရှင်မြတ်သည် အသင်တို့အနက်မှ သက်စွန့်ကြိုးပမ်းဆောင်ရွက်သူတို့ကို သိရှိတော်မူသည့်တိုင်အောင်လည်းကောင်း၊ အသင်တို့၏အခြေအနေများကို စမ်းသပ် (ကြည့်ရှု)တော်မူသည့် တိုင်အောင်လည်းကောင်း၊ အသင်တို့အား စမ်းသပ်တော်မူအံ့သတည်း။ [၁]

اِنَّ الَّذِيۡنَ كَفَرُوۡا وَصَدُّوۡا عَنۡ سَبِيۡلِ اللّٰهِ وَشَآقُّوا الرَّسُوۡلَ مِنۡۢ بَعۡدِ مَا تَبَيَّنَ لَهُمُ الۡهُدٰى ۙ لَنۡ يَّضُرُّوا اللّٰهَ شَيۡـًٔا ؕ وَسَيُحۡبِطُ اَعۡمَالَهُمۡ ﴿۳۲﴾

၃၂။ ဧကန်အမှန် အကြင်သူတို့သည် သွေဖည်ငြင်းပယ်ခဲ့ကြကုန်၏။ ထို့ပြင် ၎င်းတို့သည် အလ္လာဟ်အရှင်မြတ်၏လမ်းမှ(လည်း) တားဆီးခဲ့ကြကုန်၏။ ထိုမှတပါး ၎င်းတို့သည် ရစူလ်တမန်တော်မြတ်အား ဆန့်ကျင်ဘက် ပြုလုပ်ခဲ့ကြကုန်၏။ ၎င်းတို့သည် အလ္လာဟ်အရှင်မြတ်အား အနည်းငယ်စိုးစဉ်းမျှပင် အကျိုးယုတ်စေနိုင်ကြမည် မဟုတ်ပေ။ သို့ရာတွင် ထိုအရှင်မြတ်သည် အမှန်ပင် ၎င်းတို့၏ ပြုလုပ်ဆောင်ရွက်ချက်တို့ကို အချည်းနှီး ဖြစ်စေတော်မူပေမည်။

---

➤➤ ဟဒီးဆ်ဘြဲဝါဒတော်များတွင် တမန်တော်မြတ်သည် တစ်ရက် မြောက်မြားစွာသော မုနာဖစ်က်များအား ၎င်းတို့၏ အမည်နာမများကို ထုတ်ဖော်ပြောဆိုတော်မူပြီး၊ ပရိသတ်အတွင်းမှ နှင်ထုတ်တော်မူသည့်အကြောင်း လာရှိသည်။

ယင်းသို့ မုနာဖစ်က်များကို အမည်နာမ ထုတ်ဖော်၍ ပရိသတ်အတွင်းမှ နှင်ထုတ်တော်မူခြင်းမှာ ၎င်းတို့၏ ရုပ်ရည်နှင့် အပြောအဆိုကိုကြည့်ပြီး၊ မုနာဖစ်က်ဖြစ်ကြောင်း တမန်တော်မြတ် သိတော်မူ၍လည်း ဖြစ်နိုင်ပေသည်။

သို့တည်းမဟုတ် ဤအာယတ်တော် ကျရောက်ပြီးနောက် အလ္လာဟ်အရှင်မြတ်က တမန်တော်မြတ်အား အချို့ မုနာဖစ်က်များကို အမည်နာမနှင့်တကွ အတိအကျ အသိပေးတော်မူခြင်းကြောင့်လည်း ဖြစ်နိုင်ပေသည်။

(၁) ဆိုလိုသည်ကား - ဂျိဟာဒ်စသည့် အမိန့်တော်များကို ထုတ်ပြန်သတ်မှတ်တော်မူခြင်း၏ ရည်ရွယ်ချက်မှာ စမ်းသပ်တော်မူရန်ပင်ဖြစ်သည်။ သို့စမ်းသပ်တော်မူခြင်းဖြင့် မည်သူမည်ဝါတို့သည် အလ္လာဟ်အရှင်မြတ်၏ လမ်းတော်၌ ဂျိဟာဒ်ပြုလုပ်ကြသည်၊ မပြုလုပ်ကြသည်၊ မည်သူမည်ဝါတို့သည် ဒုက္ခအမျိုးမျိုးနှင့်တွေ့ဆုံရာ၌ ရပ်တည်နေနိုင်ကြသည်၊ မနေနိုင်ကြသည်မှာ ပေါ်လွင် ထင်ရှားလာပေသည်။ တစ်နည်း - ရွှေ စစ် မစစ် မှတ်ကျောက် တင်ကြည့်တော်မူခြင်းပင်။

يَاأَيُّهَا الَّذِينَ آمَنُوا أَطِيعُوا اللَّهَ وَأَطِيعُوا الرَّسُولَ وَلَا تُبْطِلُوا أَعْمَالَكُمْ ﴿٣٣﴾

၃၃။ 'အို-မုအ်မင်န်' သက်ဝင်ယုံကြည်သူအပေါင်းတို့၊ အသင်တို့သည် အလ္လာဟ်အရှင်မြတ်၏အမိန့်တော်ကို လိုက်နာကြလေကုန်။ ထို့ပြင် အသင်တို့သည် ရစူလ်တမန်တော်မြတ်၏အမိန့်တော်ကို(လည်း) လိုက်နာကြလေကုန်။ ထိုမှတပါး အသင်တို့သည် မိမိတို့၏ အပြုအမူဆောင်ရွက်ချက်များကို အချည်းနှီး မဖြစ်စေကြကုန်လင့်။

إِنَّ الَّذِينَ كَفَرُوا وَصَدُّوا عَنْ سَبِيلِ اللَّهِ ثُمَّ مَاتُوا وَهُمْ كُفَّارٌ فَلَنْ يَغْفِرَ اللَّهُ لَهُمْ ﴿٣٤﴾

၃၄။ ဧကန်စင်စစ် အကြင်သူတို့သည် သွေဖည်ငြင်းပယ်ခဲ့ကြကုန်၏။ ထို့ပြင် ၎င်းတို့သည် အလ္လာဟ်အရှင်မြတ်၏လမ်းမှ တားဆီး ပိတ်ပင်ခဲ့ကြကုန်၏။ ထို့နောက် ၎င်းတို့သည် ကာဖိရ် သွေဖည်ငြင်းပယ်သူတို့အဖြစ်နှင့်ပင် သေဆုံးသွားခဲ့ကြကုန်၏။ သို့ဖြစ်လျှင် အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့အား အလျှင်း ခွင့်လွှတ်ချမ်းသာပေးတော်မူမည် မဟုတ်ပေ။

فَلَا تَهِنُوا وَتَدْعُوا إِلَى السَّلْمِ وَأَنْتُمُ الْأَعْلَوْنَ وَاللَّهُ مَعَكُمْ وَلَنْ يَتِرَكُمْ أَعْمَالَكُمْ ﴿٣٥﴾

၃၅။ သို့ဖြစ်ပေရာ (အို-'မုအ်မင်န်' သက်ဝင်ယုံကြည်သူ အပေါင်းတို့၊) အသင်တို့သည် အားလျော့ခြင်းလည်း မပြုကြကုန်လင့်၊ (၎င်းတို့အား) စစ်ပြေငြိမ်းရေးသို့ ဖိတ်ခေါ်ခြင်းလည်း မပြုကြကုန်လင့်၊ အမှန်သော်ကား အသင်တို့သည်သာလျှင် အောင်မြင်သူများ ဖြစ်ကြကုန်၏။ ၎င်းပြင် အလ္လာဟ်အရှင်မြတ်သည် အသင်တို့နှင့်အတူ ရှိတော်မူ၏။ ၎င်းပြင် ထိုအရှင်မြတ်သည် အသင်တို့၏ ပြုမူဆောင်ရွက်ချက်များ(၏အကျိုး)ကို အလျှင်းလျော့နည်းစေတော်မူမည် မဟုတ်ပေတကား။ [၁]

(၁) **အောက်ကျို့ကာ စစ်ပြေငြိမ်းရေး မပြုရာ။**

ဆိုလိုသည်ကား မွတ်စ်လင်မ်များသည် ကာဖိရ်များနှင့် ယှဉ်ပြိုင်ရာတွင် လျော့ရိလျော့ရဲ မဖြစ်ကြရာ၊ အားမလျော့ကြရာ၊ စိတ်ဓာတ် မကျကြရာ၊ သတ္တိမကြောင်ကြရာ။ စစ်မက်ပြိုင်ဆိုင် တိုက်ခိုက်ရခြင်း၏ ➤➤

إِنَّمَا الْحَيَوٰةُ الدُّنْيَا لَعِبٌ وَّلَهْوٌ ۚ وَإِنْ تُؤْمِنُوْا وَتَتَّقُوْا يُؤْتِكُمْ أُجُوْرَكُمْ وَلَا يَسْـَٔلْكُمْ أَمْوَالَكُمْ ﴿٣٦﴾

၃၆။ (ဤ) ပစ္စုပ္ပန်လောကီဘဝမှာ ကစားပွဲ၊ ပျော်ရွှင်ပွဲမျှသာ ဖြစ်၏။ သို့ရာတွင် အကယ်၍ အသင်တို့သည် သက်ဝင် ယုံကြည်ကြသည်ရှိသော် ၎င်းပြင် (ပြစ်မှုဒုစရိုက်တို့မှ) ကြဉ်ရှောင်ကြသည်ရှိသော် ထိုအရှင်မြတ်သည် အသင်တို့၏ကုသိုလ်အကျိုးများကို ချီးမြှင့်ပေးသနားတော်မူပေမည်။ ထိုမှတပါး ထိုအရှင်မြတ်သည် အသင်တို့ထံမှ အသင်တို့၏ ပစ္စည်းများကို တောင်းဆိုမည်လည်း မဟုတ်ပေ။ [၁]

---

➢➢ ဘေးဒုက္ခများကို ကြောက်လန့်ပြီး စစ်ပြေငြိမ်းရန် လက်မလှမ်းကြရာ။ သို့မဟုတ်ပါမူ ကာဖိရ်ရန်သူများသည် ရဲတင်းလာကြပေမည်။ အတင့်ရဲလာကြပေမည်။ မွတ်စ်လင်မ်များကို လွှမ်းမိုးသွားကြပေမည်။

တစ်ချိန် အစ္စလာမ်အတွက်၊ မွတ်စ်လင်မ်များအတွက် အကျိုးရှိမည်ဖြစ်ပါက စစ်ပြေငြိမ်းရာတွင် တစ်စုံတစ်ရာ အပြစ်မရှိချေ။ ရှေ့ကဏ္ဍတွင် 'ဟုဒိုင်ဗိယဟ်' စစ်ပြေငြိမ်းရေး စာချုပ်အကြောင်း အကျယ်ပါရှိသည်။ အသို့ပင်ဖြစ်စေ၊ မွတ်စ်လင်မ်များသည် စိတ်ဓာတ်ကျဆင်းမှု၊ သတ္တိကြောင်မှုများကြောင့်ကား ဘယ်သောအခါမျှ စစ်ပြေငြိမ်းရေးကို အောက်ကျို့ကာ မပြုကြရာ။

မွတ်စ်လင်မ်များသည် စိုးရိမ်ရန်မလိုပေ။ အကယ်၍ မုအ်မင်န်ပီပီ ဖွဲ့သတ္တိရှိရှိနှင့် ကြံ့ခိုင်စွာရပ်တည်နေကြပါက၊ အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်များကို ဦးလည်မသုန် လိုက်နာကျင့်သုံးနေကြပါက ထိုအရှင်မြတ်သည် မွတ်စ်လင်မ်တို့နှင့် အတူတကွ ရှိနေတော်မူမည်ဖြစ်သည်။ ထိုအရှင်မြတ်သည် နောက်ဆုံးတွင် မွတ်စ်လင်မ်တို့အား အောင်နိုင်စေတော်မူမည်သာ ဖြစ်သည်။ ထိုအရှင်မြတ်သည် မွတ်စ်လင်မ်တို့အား မည်သည့်နည်းနှင့်မျှ ဆုံးရှုံးနစ်နာစေတော်မူမည် မဟုတ်ပေ။ ဤသည့်သဘောကို ကုရ်အာန်(၃း၁၃၉)တွင်လည်း မိန့်ဆိုထားတော်မူသည်။

(၁) ဤပစ္စက္ခဘဝသည် ခေတ္တခဏ သခ်ါရမျှသာဖြစ်သည်။ နောင်တမလွန်ဘဝသည် အမြဲထာဝစဉ် နေထိုင်ခံစံရမည့်ဘဝဖြစ်သည်။ နောင်တမလွန်ဘဝနှင့်စာလျှင် ဤပစ္စက္ခသည် ပျော်ပွဲရွှင်ပွဲ ကစားပွဲတမျှသာဖြစ်သည်။

အကယ်၍ လူသားတို့သည် 'အီမာန်' နှင့် 'တက်ဝါ' ကို လက်ကိုင်ထားပြီးလျှင် ဤသည့်ပစ္စက္ခ၏ ပျော်ပွဲ၊ ရွှင်ပွဲ၊ ကစားပွဲကို ကြဉ်ရှောင်နိုင်ပါက အလ္လာဟ်အရှင်မြတ်သည် ယင်းသည့်အကျိုးကို အပြည့်အဝ ချီးမြှင့်တော်မူပေမည်။

ထိုသို့သော လူသားတို့ထံမှ ၎င်းတို့၏ ဥစ္စာပစ္စည်းများကို တောင်းဆိုတော်မူမည်လည်း မဟုတ်ပေ။ ထိုအရှင်မြတ်၌ ယင်းသို့တောင်းဆိုတော်မူရန် အကြောင်းလည်းမရှိပေ။ ထိုအရှင်မြတ်သည် တောင်းတော်မူသော အရှင်မဟုတ်၊ ပေးတော်မူသောအရှင် ဖြစ်တော်မူသည်။ ကြည့်-ကုရ်အာန် (၁၁း၆၊ ၂၉း၆၀၊ ၅၁း၅၇-၅၈)။

အကယ်၍ အလ္လာဟ်အရှင်မြတ်သည် လူသားတို့ထံမှ ဥစ္စာပစ္စည်းကို တောင်းဆိုတော်မူပါလည်း ထိုအရှင်မြတ်၌ တောင်းဆိုပိုင်ခွင့်ရှိပေသည်။ အဘယ်ကြောင့်ဆိုသော် ထိုအရှင်မြတ်သည် ပိုင်ရှင်အစစ် ဖြစ်တော်မူသည်။ လူသားတို့နှင့်တကွ လူသားတို့ပိုင်ဆိုင်သမျှသော အရာအားလုံးတို့လည်း အမှန်မှာ ထိုအရှင်မြတ် ပိုင်ဆိုင်တော်မူသော အရာများသာလျှင် ဖြစ်ကြပေသည်။ 

إِن يَسْـَٔلْكُمُوهَا فَيُحْفِكُمْ تَبْخَلُوا وَيُخْرِجْ أَضْغَانَكُمْ ﴿٣٧﴾

၃၇။ အကယ်၍ ထိုအရှင်မြတ်သည် အသင်တို့ထံမှ ယင်းပစ္စည်းဉစ္စာများကို တောင်းဆိုတော်မူသည်ရှိသော်၊ တစ်ဖန် ထိုအရှင်မြတ်သည် အသင်တို့ထံ အပူတပြင်း တောင်းဆိုတော်မူသည်ရှိသော်၊ အသင်တို့သည် စေးနှဲကြပေမည်။ ၎င်းပြင် ထိုအရှင်မြတ်သည်လည်း အသင်တို့၏ စက်ဆုပ်မှုများကို ထုတ်ဖော်တော်မူပေမည်။

هَٰٓأَنتُمْ هَٰٓؤُلَآءِ تُدْعَوْنَ لِتُنفِقُوا فِى سَبِيلِ ٱللَّهِ فَمِنكُم مَّن يَبْخَلُ ۖ وَمَن يَبْخَلْ فَإِنَّمَا يَبْخَلُ عَن نَّفْسِهِۦ ۚ وَٱللَّهُ ٱلْغَنِىُّ وَأَنتُمُ ٱلْفُقَرَآءُ ۚ وَإِن تَتَوَلَّوْا يَسْتَبْدِلْ قَوْمًا غَيْرَكُمْ ثُمَّ لَا يَكُونُوٓا أَمْثَٰلَكُم ﴿٣٨﴾

၃၈။ ဟယ်-(အချင်းတို့၊) အသင်တို့သည် အလ္လာဟ်အရှင်မြတ်၏လမ်း၌ သုံးစွဲရန် ဖိတ်ခေါ်ခြင်းကို ခံကြရသောသူများပင်။ သို့ရာတွင် အသင်တို့အနက် အချို့မှာ စေးနှဲသောသူများဖြစ်ကြကုန်၏။ အမှန်သော်ကား မည်သူမဆို စေးနှဲပါမူ ထိုသူသည် မိမိကိုယ်နှင့် ပတ်သက်၍ စေးနှဲသည်သာတည်း။

စင်စစ်သော်မူကား အလ္လာဟ်အရှင်မြတ်သည် လိုလားတောင့်တခြင်း ကင်းမဲ့တော်မူသောအရှင် ဖြစ်တော်မူ၏။ သို့ရာတွင် အသင်တို့သည် လိုလားတောင့်တသူများပင် ဖြစ်ကြကုန်၏။ ၎င်းပြင် အကယ်၍ အသင်တို့သည် မျက်နှာလွှဲကြပါမူ ထိုအရှင်မြတ်သည် (အသင်တို့အား) အသင်တို့၏နေရာတွင် အခြားသောအမျိုးသားတို့ဖြင့် လဲလှယ်တော်မူပေမည်။ ထိုအမျိုးသားတို့မှာကား အသင်တို့နှင့် တူကြမည် မဟုတ်ပေ။ [၁]

---

>> သို့ပင်တစေ ထိုအရှင်မြတ်သည် သာသနာရေးတွင် သုံးစွဲရန် မိန့်ကြားတော်မူသည့်အခါ ဉစ္စာပစ္စည်းအားလုံးကို သုံးစွဲရန် မိန့်ကြားတော်မူသည်မဟုတ်။ အနည်းငယ်မျှသော ဉစ္စာပစ္စည်းကို သုံးစွဲရန်သာလျှင် မိန့်ကြားတော်မူပေသည်။ သို့သုံးစွဲရန် မိန့်ကြားတော်မူခြင်းမှာလည်း မိမိအကျိုးအတွက်မဟုတ်၊ လူသားတို့အကျိုးအတွက်သာလျှင် ဖြစ်ချေသည်။

(၁) ဆိုလိုသည်ကား အလ္လာဟ်အရှင်မြတ်သည် လူသားတို့အား အလ္လာဟ်အရှင်မြတ်၏ လမ်းတော်၌ မိမိတို့၏ ဉစ္စာပစ္စည်းများအနက် အချို့အဝက်ကိုသာ မိမိတို့၏ အကျိုးငှာသာ လှူဒါန်း သုံးစွဲရန် မိန့်ကြားထားတော်မူသည်။ သို့ပါလျက် အချို့လူသားတို့သည် မိမိတို့အကျိုးအတွက် ဉစ္စာပစ္စည်း အချို့အဝက် လှူဒါန်းရာ၌ပင် >>

# အောင်နိုင်ခြင်းကဏ္ဍ

سُورَةُ الفَتْح

ဤကဏ္ဍသည် "စူရဟ်တုလ်ဖတ်ဟိ" အောင်နိုင်ခြင်း ကဏ္ဍမည်၏။ မဒီနာမြို့၌ ကျရောက်ခဲ့၏။ ဤကဏ္ဍတွင် အာယတ်တော်ပေါင်း (၂၉)ပါး၊ ရုကူအ် အပိုဒ်ပေါင်း(၄)ပိုဒ်၊ အသီးသီးပါရှိ၏။

بِسْمِ اللَّهِ الرَّحْمَٰنِ الرَّحِيمِ

အနန္တကရုဏာတော်ရှင် ဖြစ်တော်မူသော၊ အစဉ် သနားကြင်နာ ညှာတာတော်မူသော၊ အလ္လာဟ်အရှင်မြတ်၏ နာမံတော်ဖြင့် အစပြုပါ၏။

إِنَّا فَتَحْنَا لَكَ فَتْحًا مُّبِينًا ①

၁။ (အို-နဗီတမန်တော်၊) ကေန်မလွဲ ငါအရှင်မြတ်သည် အသင့်အား ထင်ရှားစွာသော အောင်မြင်မှု တစ်ခုကို ချီးမြှင့် ပေးသနားတော်မူပြီ။

لِّيَغْفِرَ لَكَ اللَّهُ مَا تَقَدَّمَ مِن ذَنبِكَ وَمَا تَأَخَّرَ وَيُتِمَّ نِعْمَتَهُ عَلَيْكَ وَيَهْدِيَكَ صِرَاطًا مُّسْتَقِيمًا ②

၂။ (ယင်းသို့ အောင်မြင်မှု ချီးမြှင့်တော်မူခြင်းမှာ) အလ္လာဟ်အရှင်မြတ်သည် အသင်၏ရှေးကာလ ချို့တဲ့မှုများနှင့် အနာဂတ်ကာလ ချို့တဲ့မှုတို့ကို ခွင့်လွှတ်ချမ်းသာပေးသနားတော်မူအံ့သောငှာလည်းကောင်း၊ မိမိကျေးဇူးတော်များကို အသင့်အပေါ်၌ စုံလင်စေတော်မူအံ့သောငှာလည်းကောင်း၊ အသင့်အား ဖြောင့်မတ်သော တရားလမ်းကို ညွှန်ကြားပြသတော်မူအံ့သော ငှာလည်းကောင်း၊

---

➤➤ စေးနဲ့တွန့်တို ဆုတ်ဆိုင်းနေကြပေသည်။

သို့စေးနဲ့သူများသည် အမှန်မှာ သူတစ်ပါးနှင့်ပတ်သက်၍ စေးနဲ့နေကြသည်မဟုတ်၊ မိမိတို့ကိုယ်ကို မိမိတို့ စေးနဲ့နေကြခြင်းသာ ဖြစ်သည်။ သို့လှူဒါန်းလိုက်ခြင်းအားဖြင့် ထာဝစဉ် ရရှိအံ့သောအကျိုးမှ မိမိတို့ကိုယ်ကို မိမိတို့ ဖယ်ရှားထားခြင်းသာဖြစ်သည်။

ဤတွင် လူသားတို့ သိထားအပ်သည်မှာ အလ္လာဟ်အရှင်မြတ်သည် တောင့်တကြောင့်ကြမှု အပေါင်းမှ လုံး၀ ကင်းစင်တော်မူသည်။ မည်သည့်အရာကိုမျှ တောင့်တ ကြောင့်ကြရတော်မူသည်ဟူ၍ အလျှင်းမရှိ။ လူသားများသာလျှင် အရာရာ၌ တောင့်တ ကြောင့်ကြနေကြရပေသည်။

وَّيَنْصُرَكَ اللّٰهُ نَصْرًا عَزِيْزًا ③

၃။ အလ္လာဟ်အရှင်မြတ်သည် အသင့်အား ကြံ့ခိုင်သော၊ ဘုန်းကျက်သရေရှိသော၊ အောင်မြင်မှုကို ချီးမြှင့်တော်မူအံ့သောငှာလည်းကောင်း၊ ဖြစ်ပေသတည်း။

هُوَ الَّذِيْٓ اَنْزَلَ السَّكِيْنَةَ فِيْ قُلُوْبِ الْمُؤْمِنِيْنَ لِيَزْدَادُوْٓا اِيْمَانًا مَّعَ اِيْمَانِهِمْ ۭ وَلِلّٰهِ جُنُوْدُ السَّمٰوٰتِ وَالْاَرْضِ ۭ وَكَانَ اللّٰهُ عَلِيْمًا حَكِيْمًا ④

၄။ ထိုအရှင်မြတ်သည်ပင် 'မုအ်မင်န်' သက်ဝင်ယုံကြည်သူတို့၏စိတ်နှလုံးများတွင် ၎င်းတို့၏ရှိရင်းစွဲယုံကြည်မှုအပေါ်၌ ထပ်မံ၍ ယုံကြည်မှု တိုးပွားစေရန် စိတ်တည်ငြိမ်မှုကို ချပေးသနားတော်မူခဲ့၏။ [၁] စင်စစ်သော်ကား မိုးကောင်းကင်များ၌ရှိကုန်သော စစ်တပ်တို့သည်လည်းကောင်း၊ ပထဝီမြေ၌ရှိကုန်သော စစ်တပ်တို့သည်လည်းကောင်း၊ အလ္လာဟ်အရှင်မြတ် ပိုင်ဆိုင်တော်မူသော စစ်တပ်များပင်ဖြစ်ကုန်၏။ စင်စစ်တမူကား အလ္လာဟ်အရှင်မြတ်သည် အကြွင်းမဲ့ သိတော်မူသောအရှင်၊ ဆင်ခြင်တုံတရားနှင့် ပြည့်စုံတော်မူသောအရှင် ဖြစ်တော်မူ၏။ [၂]

(၁) ဆိုလိုသည်ကား – ဟုဒိုင်ဗိယဟ် စစ်ပြေငြိမ်းရေး စာချုပ်ချုပ်စဉ် အလ္လာဟ်အရှင်မြတ်သည် မွတ်စ်လင်မ်တို့၏ စိတ်နှလုံးသားအပေါ်၌ (စကီနတ်) တည်ငြိမ်မှုကို ချပေးတော်မူခဲ့၏။ ယင်းသို့ တည်ငြိမ်မှု ချပေးတော်မူခြင်းကြောင့်ပင် မွတ်စ်လင်မ်တို့သည် စစ်ပြေငြိမ်းရေးစာချုပ် ချုပ်ဆိုရာတွင် ကာဖိရ်များ၏ တစ်ဖက်စီးနင်းကျူလွန်းလှသည့် တောင်းဆိုချက်များကို လိုက်လျောခဲ့ကြရသည့်အတွက် မကျေမနပ် ဖြစ်နေခဲ့ကြရသော်လည်း တမန်တော်မြတ်၏ အဆုံးအဖြတ်ကိုပင် လိုက်နာခဲ့ကြ၏။ တစ်ဖက်စီးနင်း ပြောဆိုကျင့်မူခဲ့ကြသော ကာဖိရ်များအား တုံ့ပြန်ချေပ မနေခဲ့ကြပေ။ ယင်းသို့ မိမိတို့၏ စိတ်အလိုဆန္ဒကို မလိုက်နာဘဲ တမန်တော်မြတ်၏ အဆုံးအဖြတ်ကို ဦးထိပ်ရွက် ပန်ဆင်ခဲ့ကြသည့် ကျေးဇူးကြောင့် ၎င်းတို့၏ ရှိရင်းစွဲ (အီမာန်) ယုံကြည်မှု၏ အဆင့်အတန်းသည် ပိုမိုပွားများ မြင့်မားရင့်ကျက်လာခဲ့ပေသည်။

မွတ်စ်လင်မ်များသည် ပထမသော် တမန်တော်မြတ်ထံတော်၌ (ဂျိဟာဒ်) ပြုလုပ်ပါမည့်အကြောင်း (ဗိုင်အတ်)သစ္စာအဓိဋ္ဌာန် ဆိုပြီး၊ မိမိတို့သည် အလ္လာဟ်အရှင်မြတ်၏ လမ်းတော်တွင် အသက်စွန့်လှူရန် အသင့်ရှိကြောင်း ထုတ်ဖော်ပြသခဲ့ကြ၏။ ဤသည်လည်း ယုံကြည်မှုတစ်မျိုးပင်။

ထို့နောက် တမန်တော်မြတ်က မွတ်စ်လင်မ်တို့၏ စိတ်အလိုဆန္ဒကို ဆန့်ကျင်ကာ အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်အရ စစ်ပြေငြိမ်းရေးစာချုပ် ချုပ်ဆိုတော်မူလိုက်သည့်အခါ၊ မွတ်စ်လင်မ်တို့သည် မိမိတို့၏ ပြင်းပြတက်ကြွနေသော စိတ်ဓာတ်များကို ချိုးနှိမ်ပြီး၊ အလ္လာဟ်အရှင်မြတ်နှင့် တမန်တော်မြတ်၏ အဆုံးအဖြတ်ကိုပင် ကြည်ဖြူစွာ နာခံခဲ့ကြ၏။ ဤသည်လည်း (အီမာန်)ယုံကြည်မှု တစ်နည်းပင်။ ဆွဟာဗဟ်သာဝကကြီးများ၏ အမိန့်နာခံမှုမှာ နမူနာပြုဖွယ်ရာပင်။

لِّيُدْخِلَ الْمُؤْمِنِينَ وَالْمُؤْمِنَاتِ جَنَّاتٍ تَجْرِي مِن تَحْتِهَا الْأَنْهَارُ خَالِدِينَ فِيهَا وَيُكَفِّرَ عَنْهُمْ سَيِّئَاتِهِمْ ۚ وَكَانَ ذَٰلِكَ عِندَ اللَّهِ فَوْزًا عَظِيمًا ﴿٥﴾

၅။ (ထိုသို့ဖြစ်ရခြင်းမှာ) ထိုအရှင်မြတ်သည် သက်ဝင်ယုံကြည်သော ယောကျ်ားများအားလည်းကောင်း၊ သက်ဝင်ယုံကြည်သောမိန်းမများအားလည်းကောင်း၊ အကြင်ဥယျာဉ်များသို့ ဝင်ရောက်စေတော်မူအံ့သောငှာဖြစ်၏။ ၎င်းတို့သည် ထိုဥယျာဉ်များထဲတွင် ထာဝစဉ်နေကြရမည်ဖြစ်သည်။ ယင်းဥယျာဉ်များ၏အောက်မှ ချောင်းများသည် စီးတွေလျက်ရှိကြပေမည်။ ထိုမှတပါး ထိုအရှင်မြတ်သည် ၎င်းတို့မှ ၎င်းတို့၏ပြစ်မှု၊ ဒုစရိုက်တို့ကို ပပျောက်စေတော်မူအံ့သောငှာဖြစ်၏။

---

(၂) အလ္လာဟ်အရှင်မြတ်သည် အကြွင်းမဲ့ သိတော်မူသောအရှင် ဖြစ်တော်မူသည်။ အတိုင်းမသိ ဆင်ခြင်တုံတရားနှင့် ပြည့်ဝတော်မူသည်။ မည်သည့်အချိန်တွင် စစ်မက်ပြိုင်ဆိုင် တိုက်ခိုက်ရန်သင့်သည်။ မည်သည့်အချိန်တွင် စစ်မက်ပြိုင်ဆိုင်ရန် တိုက်ခိုက်ရန်မသင့်၊ စစ်ပြေငြိမ်းရေး ပြုသင့်သည်များကို ထိုအရှင်မြတ် အသိဆုံးပင်ဖြစ်တော်မူသည်။

သို့ဖြစ်ရာ စစ်မက်ပြိုင်ဆိုင် တိုက်ခိုက်ရန် အလ္လာဟ်အရှင်မြတ်က မိန့်ကြားတော်မူပါက၊ မွတ်စ်လင်မ်များသည် ကာဖိရ်စစ်သည်အင်အား များပြားသည်ကိုကြည့်ပြီး သို့လော သို့လော ဖြစ်နေကြရန်မလို။ ဆုတ်ဆိုင်းနေကြရန် မလို။ အမိန့်တော်အတိုင်း စစ်မက်ပြိုင်ဆိုင် တိုက်ခိုက်ကြရမည်သာဖြစ်သည်။ မိုးမြေရှိ စစ်သည်အင်အားအားလုံးသည် အလ္လာဟ်အရှင်မြတ်၏ လက်တော်တွင်း၌ရှိသည်။ ထိုအရှင်မြတ်သည် စစ်သည်အင်အား နည်းပါးနေသော မွတ်စ်လင်မ်များအား မိမိ၏စစ်သည်တော်များဖြင့် ကူညီတော်မူနိုင်ပေသည်။ ဗဒ်ရ်၊ အဟ်ဇာဗ်၊ ဟုနိုင်န်စသည့် စစ်ပွဲများတွင် ထိုအရှင်မြတ်သည် မွတ်စ်လင်မ်တို့အား မိမိ၏ စစ်သည်တော်များဖြင့် အံ့ဖွယ်သရဲကူညီတော်မူခဲ့ပြီးဖြစ်သည်။

ထို့အတူ အကယ်၍ အလ္လာဟ်အရှင်မြတ်က စစ်မက်ပြိုင်ဆိုင် တိုက်ခိုက်ခြင်းမပြုဘဲ စစ်ပြေငြိမ်းရေးစာချုပ် ချုပ်ဆိုရန် မိန့်ကြားတော်မူပါက မွတ်စ်လင်မ်များသည် ကာဖိရ်များအား ချေမှုန်းနိုင်သည်ကို ကြည့်ပြီး ကာဖိရ်များသည် ဤစစ်ပြေငြိမ်းရေးစာချုပ် ချုပ်ဆိုလိုက်သဖြင့် ငါတို့၏ လက်တွင်းမှ လွတ်မြောက်သွားကြပြီး၊ စစ်မက်ပြိုင်ဆိုင်တိုက်ခိုက်ရန်သာ အမိန့်တော်ရှိပါက၊ ငါတို့သည် ကာဖိရ်များအား ချေမှုန်းပစ်ကြမည်ဖြစ်သည်ဟု တွေးထင်ကာ ဝမ်းနည်းမနေကြရာ။

အမိန့်တော်အတိုင်း ဦးလည်မသုန် လိုက်နာကြရမည်သာဖြစ်သည်။ အလ္လာဟ်အရှင်မြတ်သည် ကာဖိရ်များအား ချေမှုန်းတော်မူလိုပါက မွတ်စ်လင်မ်စစ်သည်များမပါဘဲနှင့် မိမိ၏စစ်သည်တော်များနှင့် မိမိနည်းနှင့်လည်း ချေမှုန်းတော်မူနိုင်ပေသည်။

အသို့ပင်ရှိစေ၊ ထိုအရှင်မြတ်က စစ်ပြေငြိမ်းရန် အမိန့်တော်ရှိပါက ယင်းသည့် အမိန့်တော်ကိုနာခံရာ၌ မွတ်စ်လင်မ်တို့အဖို့ တစ်နည်းမဟုတ်တစ်နည်း အကျိုးရှိမည်မှာ မုချမလွဲတည်း။

စင်စစ်သော်ကား ထိုသည်ပင်လျှင် အလ္လာဟ်အရှင်မြတ်အထံတော်၌ ကြီးကျယ်လှစွာသောအောင်မြင်မှု ဖြစ်၏။ ①

၆။ ထိုမှတပါး ထိုအရှင်မြတ်သည် အလ္လာဟ်အရှင်မြတ်နှင့်ပတ်သက်၍ မကောင်းသော ထင်မြင်ယူဆချက်ကို ထင်မြင်ယူဆကြကုန်သော 'မုနာဖစ်က်' မုစ်လင်မ်အယောင်ဆောင် ယောကျ်ား၊ မိန်းမတို့အားလည်းကောင်း၊ 'မုရှ်ရစ်က်' တစ်စုံတစ်ရာကို အလ္လာဟ်အရှင်မြတ်နှင့် တွဲဖက် နှိုင်းယှဉ်ကိုးကွယ်ကြသော ယောကျ်ား၊ မိန်းမတို့အားလည်းကောင်း၊ ပြစ်ဒဏ်ပေးတော်မူအံ့သောငှာဖြစ်၏။

ငင်းတို့၌ ဘေးဆိုးသည် ဆိုက်ရောက်တော့မည်ဖြစ်၏။ ထို့ပြင် အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့၏အပေါ်၌ အမျက်ထွက်တော်မူမည်။ ထို့ပြင် ၎င်းတို့အား ကရုဏာတော်မှ ကင်းဝေးစေတော်မူမည်။ ထိုမှတပါး ထိုအရှင်မြတ်သည် ၎င်းတို့အဖို့ 'ဂျဟန္နမ်' ငရဲဘုံကို အဆင်သင့်ပြုလုပ်၍ ထားတော်မူ၏။ စင်စစ်မှာမူကား ယင်းငရဲဘုံသည် လွန်စွာ ဆိုးရွားလှသော နေရာထိုင်ခင်းပင် ဖြစ်ပေသည်။

وَّيُعَذِّبَ الْمُنٰفِقِيْنَ وَالْمُنٰفِقٰتِ وَالْمُشْرِكِيْنَ وَالْمُشْرِكٰتِ الظَّآنِّيْنَ بِاللّٰهِ ظَنَّ السَّوْءِ ؕ عَلَيْهِمْ دَآئِرَةُ السَّوْءِ ۚ وَغَضِبَ اللّٰهُ عَلَيْهِمْ وَلَعَنَهُمْ وَاَعَدَّ لَهُمْ جَهَنَّمَ ؕ وَسَآءَتْ مَصِيْرًا ﴿٦﴾

① တမန်တော်မြတ်က ဤကဏ္ဍလာအာယတ်တော်(၁-၄)ကို မိမိ၏ တပည့်သာဝကများအား ဖတ်ကြားပြတော်မူရာ တပည့်သာဝကများက တမန်တော်မြတ်အား ကောင်းချီးသြဘာပေးကာ-'တမန်တော်မြတ်၊ တမန်တော်မြတ်အဖို့ မင်္ဂလာရှိလှပါသည်။ ဤအာယတ်တော်များတွင် အလ္လာဟ်အရှင်မြတ်က တမန်တော်မြတ်အား ဤသို့ ထိုသို့ချီးမြှင့် မြှောက်စားတော်မူသည့်အကြောင်းများ ပါရှိပါသည်။ ထိုအရှင်မြတ်သည် ကျွန်တော်မျိုးတို့အဖို့ အသို့စီရင်တော်မူပါသနည်း' ဟု မေးလျှောက်ကြရာ၊ ဤအာယတ်တော် (၄၈:၄-၅) ကျရောက်လာခဲ့ပေသည်။

ဆိုလိုသည်ကား - အလ္လာဟ်အရှင်မြတ်သည် မွတ်စ်လင်မ်တို့အပေါ်၌ (စကီနတ်) တည်ငြိမ်မှုကို ချပေးတော်မူပြီးလျှင်၊၎င်းတို့၏ အီမာန်ယုံကြည်မှုကို တိုးပွားများပြား ရင့်ကျက်စေတော်မူခဲ့သည်။ သို့ယုံကြည်မှုကို တိုးပွားများပြား ရင့်ကျက်စေတော်မူခြင်းမှာ မွတ်စ်လင်မ်တို့အား ၎င်းတို့၏ မှုပြစ်များကို လွတ်ငြိမ်းချမ်းသာခွင့်ပေးတော်မူ၍၊ ၎င်းတို့အား ဂျန္နတ်တွင်ထာဝစဉ် စံမြန်းစေတော်မူရန်ပင် ဖြစ်သည်ဟူ၏။ ➤➤

وَلِلّٰهِ جُنُوۡدُ السَّمٰوٰتِ وَالۡاَرۡضِ ؕ وَكَانَ اللّٰهُ عَزِيۡزًا حَكِيۡمًا ۝٧

၇။ အမှန်စင်စစ်သော်ကား မိုးကောင်းကင်များ၌ ရှိကုန်သော စစ်တပ်များသည်လည်းကောင်း၊ ပထဝီမြေ၌ ရှိကုန်သောစစ်တပ်များသည်လည်းကောင်း၊ အလ္လာဟ် အရှင်မြတ် ပိုင်ဆိုင်တော်မူသော စစ်တပ်ပင် ဖြစ်ကုန်၏။ ထိုမှတပါး အလ္လာဟ်အရှင်မြတ်မှာမူကား ဘုန်းတန်ခိုးနှင့် ပြည့်စုံတော်မူသောအရှင် ဆင်ခြင်တုံတရားနှင့် ပြည့်စုံတော်မူသောအရှင် ဖြစ်တော်မူပေသတည်း။

اِنَّاۤ اَرۡسَلۡنٰكَ شَاهِدًا وَّمُبَشِّرًا وَّنَذِيۡرًا ۝٨

၈။ (အို-နဗီတမန်တော်၊) ကေန်မလွဲ ငါအရှင်မြတ်သည် အသင့်အား သက်သေအဖြစ်လည်းကောင်း၊ သတင်းကောင်း ပြောကြားသူ အဖြစ်လည်းကောင်း၊ သတိပေးနှိုးဆော်သူအဖြစ်လည်းကောင်း၊ စေလွှတ်တော်မူခဲ့၏။

لِّتُؤۡمِنُوۡا بِاللّٰهِ وَرَسُوۡلِهٖ وَتُعَزِّرُوۡهُ وَتُوَقِّرُوۡهُ ؕ وَتُسَبِّحُوۡهُ بُكۡرَةً وَّاَصِيۡلًا ۝٩

၉။ (ယင်းသို့ စေလွှတ်တော်မူခြင်းမှာ) အသင်တို့သည် အလ္လာဟ်အရှင်မြတ်နှင့် ထိုအရှင်မြတ်၏ ရစူလ်တမန်တော်အား သက်ဝင် ယုံကြည်ကြအံ့သောငှာလည်းကောင်း၊ ထိုအရှင်မြတ်(၏သာသနာတော် ရစူလ်တမန်တော်)ကို ကူညီကြအံ့သောငှာ လည်းကောင်း၊ ထိုအရှင်မြတ်(၏ရစူလ်တမန်တော်အား ရိုသေကိုင်းရှိုင်းကြအံ့သောငှာလည်းကောင်း၊ ထိုအရှင်မြတ် စင်ကြယ်သန့်ရှင်းတော်မူကြောင်း၊ နံနက်ယံနှင့် ညနေချမ်းတို့၌ မြွက်ဆိုကြအံ့သောငှာလည်းကောင်း၊ ဖြစ်ပေသည်။

---

➤➤ ဟုဒိုင်ဗိယဟ်တွင် တမန်တော်မြတ်နှင့်အတူ လိုက်ပါ၍တမန်တော်မြတ်ထံ ဂျိဟာဒ်ပြုလုပ်ပါမည့်အကြောင်း သစ္စာအဓိဋ္ဌာန် ပြုသူများအနက် တစ်ဦးတစ်ယောက်မျှ ဂျဟန္နမ် ငရဲသို့လားမည် မဟုတ်ကြောင်း တမန်တော်မြတ်၏ ဩဝါဒတော်များတွင် လာရှိပေသည်။

إِنَّ الَّذِينَ يُبَايِعُونَكَ إِنَّمَا يُبَايِعُونَ اللَّهَ يَدُ اللَّهِ فَوْقَ أَيْدِيهِمْ ۚ فَمَن نَّكَثَ فَإِنَّمَا يَنكُثُ عَلَىٰ نَفْسِهِ ۖ وَمَنْ أَوْفَىٰ بِمَا عَاهَدَ عَلَيْهُ اللَّهَ فَسَيُؤْتِيهِ أَجْرًا عَظِيمًا ﴿١٠﴾

၁၀။ (အို-နဗီတမန်တော်၊) စင်စစ်ဧကန် အသင်နှင့် 'ဗိုင်အတ်' (ပဋိညာဉ်) ပြုကြကုန်သော သူတို့မှာ *အလ္လာဟ်အရှင်မြတ်နှင့် 'ဗိုင်အတ်'ပဋိညာဉ် ပြုကြသည် သာတည်း။* ၁ အလ္လာဟ်အရှင်မြတ်၏ လက်တော်ကား ၎င်းတို့၏လက်များပေါ်၌ ရှိတော်မူ၏။

သို့ဖြစ်ပေရာ မည်သူမဆို ပဋိညာဉ်ကို ချိုးဖျက်ခဲ့ပါလျှင် ထိုသူသည် မိမိကိုယ်နှင့် ဆန့်ကျင်၍ ပဋိညာဉ်ကို ချိုးဖျက်ခြင်းပင်ဖြစ်ပေသည်။ သို့ရာတွင် မည်သူမဆို အလ္လာဟ်အရှင်မြတ်နှင့် ပဋိညာဉ်ပြုခဲ့သော အချက်တို့ကို ထိန်းသိမ်း စောင့်ရှောက်ခဲ့ပါလျှင် မကြာမြင့်မီပင် ထိုအရှင်မြတ်သည် ၎င်းအား ကြီးကျယ်လှစွာသော အကျိုးကို ချီးမြှင့် ပေးသနားတော်မူအံ့ သတည်း။

سَيَقُولُ لَكَ الْمُخَلَّفُونَ مِنَ الْأَعْرَابِ شَغَلَتْنَا أَمْوَالُنَا وَأَهْلُونَا فَاسْتَغْفِرْ لَنَا ۚ يَقُولُونَ بِأَلْسِنَتِهِم مَّا لَيْسَ فِي قُلُوبِهِمْ ۚ قُلْ فَمَن يَمْلِكُ

၁၁။ (အို-နဗီတမန်တော်၊) မကြာမီပင် နောက်ကျန်ရစ်ခဲ့ကြလေသော ကန္တာရတွင် လှည့်လည်နေထိုင်ကြသော အရဗ် တောကျေးသားတို့သည် အသင့်အား (လာရောက်) ပြောဆိုကြပေမည်။ ကျွန်ုပ်တို့အား ကျွန်ုပ်တို့၏ ပစ္စည်းဥစ္စာများသည်လည်းကောင်း၊ ကျွန်ုပ်တို့၏ အိမ်ထောင်စုသားများသည်လည်းကောင်း၊ အလုပ်များစေခဲ့ကြပါသည်။ သို့ပါ၍ အသင် တမန်တော်မြတ်သည် ကျွန်ုပ်တို့အဖို့ (အရှင်မြတ်အထံတော်တွင်) လွတ်ငြိမ်းခွင့်ကို ပန်ကြား၍ပေးပါလေ။

---

(၁) ဟုဒိုင်ဗိယဟ်တွင် ဆွဟာဗဟ်သာဝကကြီးများသည် တမန်တော်မြတ်နှင့် လက်ချင်းထပ်၍ ဗိုင်အတ်ပြုခဲ့ကြ၏။ ယင်းသို့ တမန်တော်မြတ်နှင့်လက်ချင်းထပ်၍ ဗိုင်အတ်ပြုခဲ့ကြသည်ကိုပင် အလ္လာဟ်အရှင်မြတ်ထံတော် ဗိုင်အတ်ပြုခဲ့ကြသည်ဟူ၍ မိန့်ဆိုထားတော်မူသည်။

အဘယ်ကြောင့်ဆိုသော် တမန်တော်မြတ်သည် အမှန်မှာ အလ္လာဟ်အရှင်မြတ်၏ဘက်တော်မှပင် ဗိုင်အတ် ယူတော်မူခဲ့ခြင်းဖြစ်သည်။ ထိုအရှင်မြတ်၏ အမိန့်တော်၌ နာခံမှုကိုလည်း ယင်းဗိုင်အတ်ဖြင့် ပိုမိုလေးနက်စေခဲ့ခြင်းပင်ဖြစ်သည်။ ➢➢

لَكُم مِّنَ اللّٰهِ شَيْـًٔا اِنْ اَرَادَ بِكُمْ ضَرًّا اَوْ اَرَادَ بِكُمْ نَفْعًا ۭ بَلْ كَانَ اللّٰهُ بِمَا تَعْمَلُوْنَ خَبِيْرًا ⑪

(စင်စစ်မှာကား) ၎င်းတို့သည် မိမိတို့စိတ်တွင်း၌မရှိသော အရာများကို မိမိတို့၏ နှုတ်လျှာများဖြင့် ပြောဆိုနေကြကုန်၏။ ၁

(အိုး-နဗီတမန်တော်) အသင်သည် (၎င်းတို့အား ဤသို့)ပြောဆို (မေးမြန်း)ပါလေ။ (အချင်းတို့) သို့ဖြစ်လျှင် အလ္လာဟ်အရှင်မြတ်၏ ရှေ့တော်မှောက်တွင် အကယ်၍ ထိုအရှင်မြတ်သည် အသင်တို့၌ ဘေး အန္တရာယ်တစ်စုံတစ်ရာကို သက်ရောက်စေရန် ကြံရွယ်တော်မူပါလျှင်၊ သို့တည်းမဟုတ် ထိုအရှင်မြတ်သည် အကျိုးအာနိသင် တစ်စုံတစ်ရာကို အသင်တို့၌ သက်ရောက်စေရန် ကြံရွယ်တော်မူပါလျှင် မည်သူသည် အသင်တို့နှင့်ပတ်သက်၍ အခွင့်အာဏာ တစ်စုံတစ်ရာကို ပိုင်ဆိုင်ပါသနည်း။ စင်စစ်မှာမူကား အလ္လာဟ်အရှင်မြတ်သည် အသင်တို့ ကျင့်မူလျက် ရှိကြသည်တို့ကို အကြွင်းမဲ့ သိတော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူ၏။

---

➤➤ ကုရ်အာန် (၄း၈၀) တွင် တမန်တော်၏ အမိန့်နာခံလျှင် အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်ကို နာခံရမည်သည်ဟူသော အသုံးအနှုန်း၊ ကုရ်အာန် (၈း၁၇) တွင် အသင်ပစ်ခတ်သည် မဟုတ်၊ အလ္လာဟ်အရှင်မြတ် ပစ်ခတ်တော်မူခြင်းဖြစ်သည် ဟူသော အသုံးအနှုန်းများမှာလည်း ဤသည့်သဘောပင်။

တမန်တော်မြတ်ထံ ဗိုင်အတ်ပြုခဲ့ကြသော ပုဂ္ဂိုလ်များသည် အမှန်မှာ အလ္လာဟ်အရှင်မြတ်အထံတော်၌ ဗိုင်အတ် ပြုခဲ့ကြသည်ပင်ဖြစ်ရာ၊ ထိုအရှင်မြတ်၏ သနားကြင်နာခြင်း၊ ထိန်းသိမ်းစောင့်ရှောက်ခြင်း၊ ကူညီ ရိုင်းပင်းခြင်းတည်းဟူသော လက်တော်သည် ယင်းပုဂ္ဂိုလ်တို့၏ လက်များအပေါ်၌ ရှိနေတော်မူမည်သာတည်း။

① တမန်တော်မြတ် အွမ်ရဟ်ပြုရန် မက္ကာမြို့တော်သို့ ကြွသွားတော်မူခဲ့စဉ် အရဗ် တောကျေးသားများသည် တမင် နောက်ချန်နေခဲ့ကြ၏။ သို့နောက်ချန်နေခဲ့ခြင်းမှာလည်း မက္ကာမြို့တော်သို့ အွမ်ရဟ် ပြုရန် ကြွသွားနေသော တမန်တော်မြတ်နှင့် မွတ်စ်လင်မ်များသည် မက္ကာမြို့သား မုရှ်ရစ်ကမ်များ၏ လက်တွင်းမှ မည်သို့မျှ လွတ်မြောက် နိုင်ကြမည်မဟုတ်ဟု ထင်မြင်နေခဲ့ခြင်းကြောင့်ဖြစ်၏။

အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်ဖြင့် တမန်တော်မြတ်နှင့်တကွ မွတ်စ်လင်မ်များသည် ဟုဒိုင်ဗိယဟ် စစ်ပြေငြိမ်းရေး စာချုပ်ချုပ်ဆိုပြီး၊ ဟုဒိုင်ဗိယဟ်မှ မဒီနာသို့ ကောင်းမွန်စွာ ပြန်လာခဲ့ကြ၏။ လမ်းခရီးမှာပင် အလ္လာဟ်အရှင်မြတ်သည် ဤအာယတ်တော်များကို ထုတ်ပြန်ချမှတ်တော်မူပြီး၊ တမန်တော်မြတ် မဒီနာသို့ ➤➤

بَلْ ظَنَنْتُمْ أَنْ لَّنْ يَّنْقَلِبَ الرَّسُوْلُ وَالْمُؤْمِنُوْنَ إِلَىٰٓ أَهْلِيْهِمْ أَبَدًا وَّزُيِّنَ ذٰلِكَ فِيْ قُلُوْبِكُمْ وَظَنَنْتُمْ ظَنَّ السَّوْءِ ۖ وَكُنْتُمْ قَوْمًا بُوْرًا ⑫

၁၂။ စင်စစ်မှာမူကား ရစူလ်တမန်တော်မြတ်သည်လည်းကောင်း၊ 'မုအ်မင်န်' သက်ဝင်ယုံကြည်သူတို့သည်လည်းကောင်း၊ မည်သည့်အခါမျှပင် မိမိတို့၏ အိမ်သူအိမ်သားတို့ထံ အလျှင်းပြန်လာကြမည် မဟုတ်ဟူ၍ အသင်တို့ ထင်မှတ်နေခဲ့ကြကုန်၏။ ထိုပြင် ယင်းအတွေးအထင်သည် အသင်တို့၏ စိတ်နှလုံးများကို လှပတင့်တယ်လျက် ရှိနေစေခဲ့၏။ ၎င်းပြင် အသင်တို့သည် မကောင်းသော ထင်မြင်ချက်ကို ထင်မြင်ခဲ့ကြကုန်၏။ ထိုမှတပါး အသင်တို့သည် ပျက်စီးသောသူများပင် ဖြစ်ခဲ့ကြကုန်၏။

وَمَنْ لَّمْ يُؤْمِنْ بِاللّٰهِ وَرَسُوْلِهٖ فَإِنَّآ أَعْتَدْنَا لِلْكٰفِرِيْنَ سَعِيْرًا ⑬

၁၃။ စင်စစ်သော်ကား မည်သူမဆို အလ္လာဟ်အရှင်မြတ်အားလည်းကောင်း၊ ထိုအရှင်မြတ်၏ ရစူလ်တမန်တော်မြတ်အားလည်းကောင်း၊ သက်ဝင်ယုံကြည်ခြင်းမရှိခဲ့မူ ဧကန်မလွဲ ငါအရှင်မြတ်သည် 'ကာဖိရ်' သွေဖည်ငြင်းပယ်ကြကုန်သောသူတို့အဖို့ 'ဂျဟန္နမ်' ငရဲဘုံကို အဆင်သင့် ပြုလုပ်ထားတော်မူ၏။

وَلِلّٰهِ مُلْكُ السَّمٰوٰتِ وَالْأَرْضِ ۚ يَغْفِرُ لِمَنْ يَّشَآءُ وَيُعَذِّبُ مَنْ يَّشَآءُ ۚ وَكَانَ اللّٰهُ غَفُوْرًا رَّحِيْمًا ⑭

၁၄။ စင်စစ်တမူကား မိုးကောင်းကင်များကို စိုးမိုးအုပ်ချုပ်မှုအာဏာသည်လည်းကောင်း၊ ကမ္ဘာမြေကို စိုးမိုးအုပ်ချုပ်မှုအာဏာသည်လည်းကောင်း၊ အလ္လာဟ်အရှင်မြတ်၌သာရှိ၏။ ထိုအရှင်မြတ်သည် မိမိ အလိုရှိတော်မူသောသူအား ခွင့်လွှတ်ချမ်းသာ ပေးသနားတော်မူ၍ မိမိအလိုရှိတော်မမူသောသူအား ပြစ်ဒဏ်ပေးတော်မူသည်။

>> ပြန်လည်ရောက်ရှိသည့်အခါ အဆိုပါ အရပ်တောကျေးသားများ တမန်တော်မြတ်ထံလာပြီး၊ တမန်တော်မြတ်နှင့်အတူ မက္ကာမြို့တော်သို့ မိမိတို့ မလိုက်ပါနိုင်ခဲ့ကြသည့်အကြောင်း၊ မိမိတို့အဖို့ အလ္လာဟ်အရှင်မြတ်ထံတော်၌ လွတ်ငြိမ်းခွင့် ပန်ကြားပေးတော်မူပါမည့်အကြောင်း ဟန်ဆောင်ကာ မျက်နှာချိုသွေး၍ လိမ်လည်ပြောဆိုကြမည် ဖြစ်သည်ကို ကြိုတင် ဗျာဒိတ်ပေးထားတော်မူသည်။

စင်စစ်သော်ကား အလ္လာဟ်အရှင်မြတ်သည် အလွန်တရာ ခွင့်လွှတ်ချမ်းသာ ပေးသနားတော်မူသောအရှင်၊ အလွန်တရာ သနားကြင်နာ ညှာတာတော်မူသောအရှင်၊ ဖြစ်တော်မူပေသတည်း။

سَيَقُولُ الْمُخَلَّفُونَ إِذَا انطَلَقْتُمْ إِلَىٰ مَغَانِمَ لِتَأْخُذُوهَا ذَرُونَا نَتَّبِعْكُمْ ۖ يُرِيدُونَ أَن يُبَدِّلُوا كَلَامَ اللَّهِ ۚ قُل لَّن تَتَّبِعُونَا كَذَٰلِكُمْ قَالَ اللَّهُ مِن قَبْلُ ۖ فَسَيَقُولُونَ بَلْ تَحْسُدُونَنَا ۚ بَلْ كَانُوا لَا يَفْقَهُونَ إِلَّا قَلِيلًا ﴿١٥﴾

၁၅။ မကြာမီပင် နောက်ကျစ်ရစ်ခဲ့ကြသော သူတို့သည် လက်ရပစ္စည်းများကိုယူရန် အသင်တို့သွားကြသောအခါ 'အသင်တို့သည် ကျွန်ုပ်တို့အား မိမိတို့နှင့်အတူလိုက်ရန် ခွင့်ပြုကြလေကုန်' ဟူ၍ ပြောဆိုကြပေမည်။ (အို-နဗီတမန်တော်၊) အသင်သည် ပြောကြားပါလေ။ (အချင်းတို့၊) အသင်တို့သည် ကျွန်ုပ်တို့နှင့်အတူ အလျှင်း မလိုက်နိုင်ကြပေ။ ဤအတိုင်း ရှေးဦးမဆွကပင် အလ္လာဟ်အရှင်မြတ်က မိန့်ကြားထားတော်မူ၏။ ထိုအခါ ၎င်းတို့က အလျှင်းမဟုတ်၊ စင်စစ်မှာမူကား အသင်တို့သည် ကျွန်ုပ်တို့အား မနာလိုကြသည်ဟု အမှန်ပင် ပြောဆိုကြပေမည်။ အမှန်စင်စစ်သော်ကား ၎င်းတို့သည် အနည်းငယ်မျှသာလျှင် နားလည်ကြကုန်သတည်း။ ၁

---

① ဟုဒိုင်ဗိယဟ် စစ်ပြေငြိမ်းရေး စာချုပ်ချုပ်ဆိုပြီး တမန်တော်မြတ် မဒီနာသို့ ပြန်ကြွလာသည့်အခါ အလ္လာဟ်အရှင်မြတ်က တမန်တော်မြတ်အား ခိုင်ဗရ်ရှိ ယဟူဒီ သစ္စာဖောက်များကို နှိမ်နှင်းရန်အမိန့်ပေးတော်မူခဲ့၏။ ခိုင်ဗရ်ရှိ ယဟူဒီများသည် အဟ်ဇာဗ်စစ်ပွဲ ဖြစ်ပွားစဉ်က မွတ်စ်လင်မ်တို့အား သစ္စာဖောက်ပြီး မဒီနာမြို့ကို ချေမှုန်းနိုင်ရန် ကာဖိရ်များကိုပင် သွေးဆောင်ခေါ်ယူလာခဲ့ကြ၏။

အရဗ်တောကျေးသားမုနာဖစ်က်များသည် ဟုဒိုင်ဗိယဟ် ခရီးတွင် မွတ်စ်လင်မ်အဖို့ အန္တရာယ်ကြီးမားလှသည်ဟု တွေးထင်ခဲ့ကြသဖြင့် နောက်ချန်နေခဲ့ကြ၏။

ယခုခိုင်ဗရ် စစ်ပွဲတွင် မွတ်စ်လင်မ်တို့ အရေးသာကြမည်။ လက်ရပစ္စည်းအမြောက်အမြားရကြမည်ကို တွေ့မြင်ကြသည့်အခါ မွတ်စ်လင်မ်တို့နှင့်အတူ ခိုင်ဗရ်စစ်ပွဲတွင် ပါဝင်ဆင်နွှဲလိုခဲ့ကြ၏။ သို့ပါဝင်ဆင်နွှဲလိုခဲ့ကြသည့်အတိုင်း၊ တမန်တော်မြတ်ထံ လာရောက်မေတ္တာရပ်ခံကြရမည့်အကြောင်း အလ္လာဟ်အရှင်မြတ်က တမန်တော်မြတ်အား ကြိုတင် အသိပေးထားတော်မူခဲ့၏။

သို့လာရောက် မေတ္တာရပ်ခံသည့်အခါ တမန်တော်မြတ်က ယင်းအရဗ် တောကျေးသားတို့အား 'အသင်တို့သည် ခိုင်ဗရ်ခရီးတွင် ငါတို့နှင့်အတူ အလျှင်းလိုက်ပါဆင်နွှဲနိုင်ကြမည် မဟုတ်ကြောင်း၊ အသင်တို့ ➢➢

قُلْ لِّلْمُخَلَّفِيْنَ مِنَ الْاَعْرَابِ سَتُدْعَوْنَ اِلٰى قَوْمٍ اُولِىْ بَاْسٍ شَدِيْدٍ تُقَاتِلُوْنَهُمْ اَوْ يُسْلِمُوْنَ ۚ فَاِنْ تُطِيْعُوْا يُؤْتِكُمُ اللّٰهُ اَجْرًا حَسَنًا ۚ وَاِنْ تَتَوَلَّوْا كَمَا تَوَلَّيْتُمْ مِّنْ قَبْلُ يُعَذِّبْكُمْ عَذَابًا اَلِيْمًا ﴿١٦﴾

၁၆။ (အို-နဗီတမန်တော်၊) အသင်သည် နောက်ကျန်ရစ်ခဲ့ကြလေသော၊ ကန္တာရတွင် လှည့်လည်နေထိုင်ကြကုန်သော အရဗ်တောကျေးသားတို့အား ပြောကြားပါလေ။ ‘(အချင်းတို့၊) မကြာမြင့်မီပင် အသင်တို့သည် အလွန်အမင်း တိုက်ခိုက်မှုပြုခဲ့ကြသော အမျိုးသားတို့နှင့် ပြိုင်ဆိုင်တိုက်ခိုက်ရန် ဖိတ်ခေါ်ခြင်းကို ခံကြရပေမည်။ အသင်တို့သည် ၎င်းတို့နှင့် တိုက်ခိုက်ကြရပေမည်။ သို့တည်းမဟုတ် ၎င်းတို့သည် (လက်နက်ချအညံ့ခံ၍ အစ္စလာမ်သာသနာတော်၏ အမိန့်ကို) နာခံကြရပေမည်။

ထိုအခါ အကယ်၍ အသင်တို့သည် အမိန့်တော်ကို လိုက်နာကြပါလျှင် အလ္လာဟ်အရှင်မြတ်သည် အသင်တို့အား ကောင်းမြတ်သောအကျိုးကို ချီးမြှင့်ပေးသနားတော်မူပေမည်။ သို့ရာတွင် အကယ်၍ အသင်တို့သည် ယခင်နည်းတူ မျက်နှာလွှဲကြပါမူ ထိုအရှင်မြတ်သည် အသင်တို့အား ပြင်းပြစွာသော ပြစ်ဒဏ်ကို ပေးတော်မူပေမည်။’ ၁

➤➤ ယခုကဲ့သို့ လာရောက်မေတ္တာမရပ်ခံကြမီ အလျင်ကတည်းကပင် အလ္လာဟ်အရှင်မြတ်က ကြိုတင်မိန့်ကြားထားတော်မူသည်။ ဤအခြေအနေတွင် အသင်တို့သည် ငါတို့နှင့်အတူ အသို့လျှင် လိုက်ပါနိုင်ကြအံ့နည်း။ အကယ်၍ အသင်တို့သည် ငါတို့နှင့်အတူ လိုက်ပါလာကြမည်ဆိုပါက တနည်းအားဖြင့် အလ္လာဟ်အရှင်မြတ်၏ ဗျာဒိတ်တော်ကို ကပြောင်းကပြန်ပြုလုပ်ရာ ရောက်ပေမည်။ ဤသို့ကား အလျှင်းမဖြစ်နိုင်ကြောင်း ပြောပြတော်မူခဲ့လေသည်။

ထိုအခါ အရဗ်တောကျေးသား မုနာဖစ်က်များက မွတ်စ်လင်မ်တို့အား ‘အလ္လာဟ်အရှင်မြတ်က ဤကိစ္စတွင် အသို့မျှ မိန့်ကြားတော်မူသည်မဟုတ်၊ လက်ရပစ္စည်းအားလုံးတို့ကို အသင်တို့ လက်ဝါးကြီးအုပ်လိုကြသည်၊ အသင်တို့သည် ငါတို့၏ အကျိုးကို လားလားမျှ မလိုလားကြ၊ အမှန်မှာ အသင်တို့သည် ငါတို့အား မနာလိုကြပေ’ ဟု ပြောဆိုခဲ့ကြပေသည်။

(၁) ဆိုလိုသည်ကား အရဗ် တောကျေးသား မုနာဖစ်က်များသည် ဟုဒိုင်ဗိယဟ်ခရီးတွင် အန္တရာယ်မြင်ခဲ့ကြသည့်အခါ တမန်တော်မြတ်နှင့်အတူ မလိုက်ပါခဲ့ကြပေ။ နောက်ချန်နေခဲ့ကြ၏။ ခိုင်ဗရ် ခရီးတွင် အကျိုးမြင်ခဲ့ကြသည့်အခါ တမန်တော်မြတ်နှင့်အတူ လိုက်ပါလိုကြပါသည့်အကြောင်း မေတ္တာရပ်ခံခဲ့ကြ၏ ➤➤

لَيْسَ عَلَى الْأَعْمٰى حَرَجٌ وَّلَا عَلَى الْأَعْرَجِ حَرَجٌ وَّلَا عَلَى الْمَرِيْضِ حَرَجٌ ۗ وَمَنْ يُّطِعِ اللّٰهَ وَرَسُوْلَهٗ يُدْخِلْهُ جَنّٰتٍ تَجْرِيْ مِنْ تَحْتِهَا الْأَنْهٰرُ ۚ وَمَنْ يَّتَوَلَّ يُعَذِّبْهُ عَذَابًا أَلِيْمًا ﴿١٧﴾

၁၇။ (သို့ရာတွင်) မျက်စိကွယ်သော သူ၏အပေါ်၌ (စစ်တိုက်ရန် မလိုက်နိုင်သောကြောင့်) အပြစ် တစ်စုံတစ်ရာမရှိချေ။ ၎င်းပြင် ခြေကျိုး၏အပေါ်၌လည်း မည်သည့်အပြစ်မျှ မရှိချေ။ ထိုနည်းတူစွာ ဝေဒနာရှင်၏အပေါ်၌လည်း အပြစ် တစ်စုံတစ်ရာမျှ မရှိချေ။

စင်စစ်တမူကား မည်သူမဆို အလ္လာဟ်အရှင်မြတ်အမိန့်တော်ကိုလည်းကောင်း၊ ထိုအရှင်မြတ်၏ ရစူလ်တမန်တော်၏ အမိန့်တော်ကိုလည်းကောင်း၊ လိုက်နာသည်ရှိသော် ထိုအရှင်မြတ်သည် ၎င်းအား အကြင်ဥယျာဉ်များသို့ ဝင်ရောက်စေတော်မူပေမည်။ ယင်းဥယျာဉ်များ၏အောက်၌ ချောင်းများ၊ စီဆင်းလျက်ရှိကြပေမည်။ သို့ရာတွင် မည်သူမဆို (အမိန့်တော်ကို လိုက်နာခြင်းမရှိဘဲ) မျက်နှာလွှဲသည်ရှိသော် ထိုအရှင်မြတ်သည် ၎င်းအား ပြင်းပြ နာကျင်ဖွယ်ဖြစ်သော ပြစ်ဒဏ်ကို စီရင်တပ်ရိုက်တော်မူအံ့သတည်း။

---

➤➤ သို့ရာတွင် ယင်းသို့ ထမင်းရေပူလာ လျှာလွှဲခဲ့ကြသော၊ အနံ့ကြီး ကြိုက်သော၊ ကိုယ်ကျိုးကိုသာ ကြည့်သော အယောင်ဆောင် အရဗ်တောကျေးသားတို့သည် ခိုင်ဗရ်ခရီးတွင် လိုက်ပါခွင့် အလျှင်းမရခဲ့ကြပေ။

ဤအာယတ်တော်တွင် ယင်းအရဗ် တောကျေးသားတို့အား ရည်ညွှန်းကာ နောက်ဆုံးတစ်ကြိမ် ထပ်မံခွင့်ပြုသည့်အနေဖြင့် 'အသင်တို့သည် ဤစစ်ပွဲတွင်မူ မလိုက်ပါနိုင်ကြပေ။ သို့တစေလည်း နောက်နောင် ဆင်နွှဲရမည့် စစ်ပွဲအမြောက်အမြား ရှိပေသေးသည်။ စစ်မက်ရေးရာ အလွန်ကျွမ်းကျင် လိမ္မာပါးနပ်သော၊ စစ်မက်အင်အားအလွန်ကြီးမားသော လူမျိုးများနှင့် ယင်းအမျိုးသားများသည် မွတ်စ်လင်မ်ဖြစ်လာကြသည်အထိ သို့မဟုတ် အစ္စလာမ်အစိုးရသို့ အောက်ကျို့ လာကြရသည်အထိ စစ်မက်ပြိုင်ဆိုင်တိုက်ခိုက်ရန် ရှိပေသေးသည်။

'အကယ်၍ အသင်တို့သည် ဂျိဟာဒ် ပြုလုပ်ရန် ဆန္ဒ အလွန်ပြင်းပြနေကြပါက ထိုအချိန်တွင် မိမိတို့ဆန္ဒအလျောက် ဂျိဟာဒ် ပြုနိုင်ကြပေသည်။ ထိုအခါ အကယ်၍ အသင်တို့သည် အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်ကို ကြည်ဖြူစွာ နာခံကြပါက၊ ထိုအရှင်မြတ်သည် အသင်တို့အား အလွန်ကောင်းမြတ်သော အကျိုးကို ချီးမြှင့်တော်မူပေမည်။ အကယ်၍ အသင်တို့သည် ယခင်ကကဲ့သို့ပင် ဖောက်ပြန်သွေဖည် ကျောခိုင်းကြမည်ဆိုပါက ထိုအရှင်မြတ်သည် အသင်တို့အား အတိုင်းမသိ ကြီးလေးသော ပြစ်ဒဏ်ခတ်တော်မူပေမည်'ဟု မိန့်ကြားထားတော်မူသည်။

لَقَدْ رَضِيَ اللَّهُ عَنِ الْمُؤْمِنِينَ إِذْ يُبَايِعُونَكَ تَحْتَ الشَّجَرَةِ فَعَلِمَ مَا فِي قُلُوبِهِمْ فَأَنزَلَ السَّكِينَةَ عَلَيْهِمْ وَأَثَابَهُمْ فَتْحًا قَرِيبًا ﴿١٨﴾

၁၈။ (အို-နဗီတမန်တော်၊) 'မုအ်မင်န်' သက်ဝင်ယုံကြည်သူတို့သည် သစ်ပင်အောက်တွင် အသင်နှင့် ဗိုင်အတ်ပြုနေကြစဉ်အခါ၌ ကေန်မလွဲ *အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့အပေါ်ဝယ်ကျေနပ်တော်မူခဲ့၏။* [၁] တစ်ဖန် ထိုအရှင်မြတ်သည် ၎င်းတို့၏ စိတ်တွင်း၌ ရှိသည်ကို သိတော်မူခဲ့၏။ သို့ဖြစ်ပေရာ ထိုအရှင်မြတ်သည် ၎င်းတို့အပေါ်ဝယ် *စိတ်တည်ငြိမ်မှုကို ချပေးသနားတော်မူခဲ့၏။* [၂] ထို့ပြင် ၎င်းတို့အား ထိုအရှင်မြတ်သည် နီးကပ်စွာသော အောင်မြင်မှုကိုလည်း ချီးမြှင့်တော်မူခဲ့၏။

---

(၁) အထက်တွင် ရေးသားဖော်ပြခဲ့သည့်အတိုင်း ဟုဒိုင်ဗိယဟ်တွင် မုအ်မင်န်များသည် တမန်တော်မြတ်ထံ၌ သစ်ပင်တစ်ပင်အောက်တွင် ဂျိဟာဒ်ပြုလုပ်ကြပါမည့်အကြောင်း ဗိုင်အတ်ပြုခဲ့ကြ၏။ ယင်းသို့ ဗိုင်အတ်ပြုခဲ့ကြသော မုအ်မင်များအား အလ္လာဟ်အရှင်မြတ်သည် အထူးကျေနပ်နှစ်သက်တော်မူခဲ့၏။ ထိုသို့ အလ္လာဟ်အရှင်မြတ် ကျေနပ်နှစ်သက်တော်မူခဲ့သည့်အတွက် အဆိုပါ ဗိုင်အတ်ကို (بيعة الرضوان) 'ဗိုင်အတုရ်ရိဒွဝါန်' အလွန်ကျေနပ်နှစ်သက်ဖွယ်ရာဖြစ်သော ဗိုင်အတ်ဟူ၍ ခေါ်ဝေါ် သမုတ်ကြပေသည်။

ဤအကြောင်း ဤကဏ္ဍ၏အစတွင် အကျယ်ရေးသားခဲ့ပေပြီ။

(၂) ဟုဒိုင်ဗိယဟ်တွင် တမန်တော်မြတ်ထံ၌ မွတ်စ်လင်မ်များ ဗိုင်အတ်ပြုနေကြစဉ် ၎င်းတို့၏ စိတ်နှလုံးများတွင် ရှိနေသောအရာကို အလ္လာဟ်အရှင်မြတ်သည် သိတော်မူ၏။ ၎င်းတို့၏ စိတ်နှလုံးများတွင်ရှိနေသော အရာကား အဘယ်နည်း။

ဤတွင် အများမုဖတ်စ်စစ်ရ်များက ၎င်းတို့၏ စိတ်နှလုံးများတွင်ရှိနေသော အရာကား အခြားမဟုတ်၊ အလ္လာဟ်အရှင်မြတ်အပေါ်၌ ၎င်းတို့၏ ယုံပုံ လွှဲအပ်မှု၊ စိတ်စေတနာ ဖြူစင်မှု၊ သာသနာချစ်မှုဖြစ်သည်ဟူ၍ ဖွင့်ဆိုကြသည်။

သို့ရာတွင် ပညာရှင်ကြီး အဗူဟိုင်ယာန်ကမူ၊ ၎င်းတို့၏ စိတ်နှလုံးများတွင် ဖြစ်ပေါ်နေသောအရာကား အခြားမဟုတ်။ ဟုဒိုင်ဗိယဟ် စစ်ပြေငြိမ်းရေးစာချုပ် ချုပ်ဆိုရာတွင် မက္ကာမြို့သား မုရှ်ရစ်က်များဘက်မှ တောင်းဆိုထားသော စည်းကမ်းချက်များကို ကြည့်ပြီး၊ ၎င်းတို့၏ စိတ်နှလုံးများတွင် ဖြစ်ပေါ်နေသည့် စိုးရိမ်ပူပန်မှု၊ စိတ်မတည်ငြိမ်မှုကို ဆိုလိုသည်ဟု ဖွင့်ဆိုထားသည်။

ဤအဆိုသည် ကုရ်အာန်ကျမ်းလာ နောက်အာယတ်တော်နှင့် ပို၍ စပ်ဟပ်မိသည်။ ဆိုလိုသည်ကား အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့၏ စိတ်တွင်း၌ ဖြစ်ပေါ်နေသော စိုးရိမ်မှုကို သိရှိတော်မူရာ၊ ၎င်းတို့အပေါ်၌ တည်ငြိမ်မှုကို ချပေးတော်မူခဲ့လေသည်။

وَّمَغَانِمَ كَثِيْرَةً يَّاْخُذُوْنَهَا ۗ وَكَانَ اللّٰهُ عَزِيْزًا حَكِيْمًا ⑲

၁၉။ ထိုမှတပါး မြောက်မြားစွာသော လက်ရပစ္စည်းများကိုလည်း (ချီးမြှင့်တော်မူခဲ့ပေရာ) ၎င်းတို့သည် ယင်းလက်ရပစ္စည်းများကို ယူငင်လျက် ရှိကြကုန်၏။ စင်စစ်သော်ကား အလ္လာဟ်အရှင်မြတ်သည် လွန်စွာနိုင်နင်းလွှမ်းမိုးတော်မူသောအရှင် ဆင်ခြင်တုံတရားနှင့် ပြည့်စုံတော်မူသောအရှင် ဖြစ်တော်မူပေသတည်း။

وَعَدَكُمُ اللّٰهُ مَغَانِمَ كَثِيْرَةً تَاْخُذُوْنَهَا فَعَجَّلَ لَكُمْ هٰذِهٖ وَكَفَّ اَيْدِيَ النَّاسِ عَنْكُمْ ۚ وَلِتَكُوْنَ اٰيَةً لِّلْمُؤْمِنِيْنَ وَيَهْدِيَكُمْ صِرَاطًا مُّسْتَقِيْمًا ⑳

၂၀။ အလ္လာဟ်အရှင်မြတ်သည် အသင်တို့အား အခြားမြောက်မြားစွာသောလက်ရပစ္စည်းများကိုလည်း *အသင်တို့ ယူငင်ကြဦးမည် ဖြစ်သည်ဟု ကတိပေးတော်မူခဲ့၏။* [၁] သို့ဖြစ်ပေရာ ထိုအရှင်မြတ်သည် ဤသည့် (အောင်မြင်မှု)ကို အသင်တို့အား လတ်တလော ချီးမြှင့်တော်မူခဲ့၏။ ၎င်းပြင် ထိုအရှင်မြတ်သည် လူတို့၏ *လက်များကို အသင်တို့(အား အန္တရာယ်ပြုနိုင်ခြင်း)မှ တားဆီးတော်မူခဲ့၏။* [၂]

(ထိုသို့ပြုတော်မူခြင်းမှာ) ယင်း(လတ်တလော ရရှိခဲ့သော) အောင်မြင်မှုသည် 'မုအ်မင်န်' သက်ဝင်ယုံကြည်သူတို့အဖို့ နမူနာတစ်ရပ် ဖြစ်အံ့သောငှာလည်းကောင်း၊ ထိုအရှင်မြတ်သည် အသင်တို့အား ဖြောင့်မတ်သောလမ်းကို ပြတော်မူအံ့သောငှာလည်းကောင်း၊ ဖြစ်ချေသည်။

---

(၁) ဆိုလိုသည်ကား -အလ္လာဟ်အရှင်မြတ်သည် မွတ်စ်လင်မ်တို့အား မြောက်မြားစွာသော လက်ရပစ္စည်းများ ချီးမြှင့်တော်မူမည် ဖြစ်ကြောင်း၊ ကတိပြုထားတော်မူသည်။ ယင်းသည့် လက်ရပစ္စည်းများ အနက် ခိုင်ဗရ် အောင်နိုင်မှုသည် လက်ငင်းပင်ဖြစ်သည်။

(၂) ဆိုလိုသည်ကား အလ္လာဟ်အရှင်မြတ်သည် ဟုဒိုင်ဗိယဟ် သို့မဟုတ် ခိုင်ဗရ်တွင် ကာဖိရ်များ၏လက်များကို မွတ်စ်လင်မ်တို့အား အန္တရာယ်မပြုနိုင်ရန် တားဆီးထားတော်မူခဲ့ပေသည်။ (ဝါ) အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်ဖြင့် မွတ်စ်လင်မ်တို့နှင့် ကာဖိရ်များ စပ်ကြားတွင် အကြီးအကျယ် စစ်မဖြစ်ပွားခဲ့ပေ။ မွတ်စ်လင်မ်တို့ ခရီးသွားနေခိုက်၊ မြို့ရွာတွင် ကျန်ရှိနေခဲ့ကြသော အိမ်သူအိမ်သားများ ကိုလည်း မည်သူမျှ မကျူးကျော် မစော်ကားနိုင်ခဲ့ပေ။

وَّأُخْرَىٰ لَمْ تَقْدِرُوا عَلَيْهَا قَدْ أَحَاطَ اللَّهُ بِهَا ۚ وَكَانَ اللَّهُ عَلَىٰ كُلِّ شَيْءٍ قَدِيرًا ﴿٢١﴾

၂၁။ ထိုမှတပါး အသင်တို့ စွမ်းနိုင်ခြင်း မရှိခဲ့ကြသေးသော *အခြားအောင်မြင်မှုတစ်ရပ်လည်း ရှိပေသေး၏။* [၁] ဧကန်စင်စစ် အလ္လာဟ်အရှင်မြတ်သည် ယင်းအောင်မြင်မှုကို ဝန်းဝိုင်းလျက် ရှိတော်မူ၏။ စင်စစ်မူကား အလ္လာဟ်အရှင်မြတ်သည် အရာခပ်သိမ်းတို့ကို စွမ်းနိုင်တော်မူသောအရှင်မြတ်ပင် ဖြစ်တော်မူပေသည်။

وَلَوْ قَاتَلَكُمُ الَّذِينَ كَفَرُوا لَوَلَّوُا الْأَدْبَارَ ثُمَّ لَا يَجِدُونَ وَلِيًّا وَلَا نَصِيرًا ﴿٢٢﴾

၂၂။ စင်စစ်တမူကား အကယ်၍သာ 'ကာဖိရ်' သွေဖည်ငြင်းပယ်သော သူတို့သည် အသင်တို့နှင့် ယှဉ်ပြိုင် တိုက်ခိုက်ခဲ့ကြပါလျှင် ၎င်းတို့သည် ကျောခိုင်း၍ထွက်ပြေးခဲ့ကြမည်သာ။ ထို့နောက် ၎င်းတို့သည် အဆွေခင်ပွန်းဟူ၍လည်း တစ်ဦးတစ်ယောက်ကိုမျှပင် တွေ့ရှိကြမည် မဟုတ်ပေ။ ကူညီစောင်မအံ့သောသူဟူ၍လည်း တစ်ဦးတစ်ယောက်ကိုမျှပင် တွေ့ရှိကြမည် မဟုတ်ပေ။

سُنَّةَ اللَّهِ الَّتِي قَدْ خَلَتْ مِن قَبْلُ ۖ وَلَن تَجِدَ لِسُنَّةِ اللَّهِ تَبْدِيلًا ﴿٢٣﴾

၂၃။ (ဤသည်) ရှေးအထက်ကျော်ကာလက လွန်လေခဲ့ပြီးဖြစ်သော အလ္လာဟ်အရှင်မြတ်၏စည်းကမ်းပင် ဖြစ်၏။ ၎င်းပြင် (အို-နဗီတမန်တော်၊) အသင်သည် အလ္လာဟ်အရှင်မြတ်၏စည်းကမ်း၌ မည်သည့် ပြောင်းလဲမှုကိုမျှ အလျှင်းတွေ့ရှိမည် မဟုတ်ပေ။

---

(၁) 'အသင်တို့ မစွမ်းဆောင်နိုင်ကြသော အခြား အောင်မြင်မှု' ဟူသည် မက္ကာမြို့တော်ကို အောင်နိုင်ခြင်းကို ဆိုလိုသည်။ မွတ်စ်လင်မ်တို့သည် ယခုလတ်တလော မက္ကာမြို့တော်ကို မအောင်နိုင်ကြ သေးသော်လည်း အလ္လာဟ်အရှင်မြတ်က ကတိပြုထားတော်မူပြီးဖြစ်ရာ၊ မွတ်စ်လင်မ်တို့သည် မကြာမီအတွင်း မက္ကာမြို့တော်ကို မုချအောင်နိုင်ကြရတော့မည်ဖြစ်သည်။

وَهُوَ الَّذِي كَفَّ أَيْدِيَهُمْ عَنكُمْ وَأَيْدِيَكُمْ عَنْهُم بِبَطْنِ مَكَّةَ مِن بَعْدِ أَنْ أَظْفَرَكُمْ عَلَيْهِمْ ۚ وَكَانَ اللَّهُ بِمَا تَعْمَلُونَ بَصِيرًا ﴿٢٤﴾

၂၄။ ထို့ပြင် ထိုအရှင်မြတ်သည်ပင် ထို('ကာဖိရ်' သွေဖည်ငြင်းပယ်သော)သူတို့၏လက်များကို အသင်တို့(အား အန္တရာယ်ပြုခြင်း)မှလည်းကောင်း၊ အသင်တို့၏လက်များကို ထိုသူတို့(အား အန္တရာယ်ပြုခြင်းမှလည်းကောင်း၊) မက္ကာမြို့တွင်း၌ အသင်တို့အား ထိုသူတို့အပေါ်ဝယ် အောင်မြင်စေတော်မူပြီး နောက်သော်မှပင် တားဆီးထားတော်မူခဲ့၏။ [၁] စင်စစ်သော်ကား အလ္လာဟ်အရှင်မြတ်သည် အသင်တို့၏ပြုမူချက်တို့ကို ကောင်းစွာ ရှုမြင်တော်မူလျက် ရှိတော်မူခဲ့ပေသတည်း။

هُمُ الَّذِينَ كَفَرُوا وَصَدُّوكُمْ عَنِ الْمَسْجِدِ الْحَرَامِ وَالْهَدْيَ مَعْكُوفًا أَن يَبْلُغَ مَحِلَّهُ ۚ وَلَوْلَا رِجَالٌ مُّؤْمِنُونَ وَنِسَاءٌ مُّؤْمِنَاتٌ

၂၅။ ထိုသူတို့သည်ပင် အကြင်သူများတည်း။ ထိုသူတို့သည် သွေဖည်ငြင်းပယ်ခဲ့ကြကုန်၏။ ထို့ပြင် ထိုသူတို့သည် အသင်တို့အား 'မတ်စ်ဂျစ်ဒ်ဟရာမ်' ရှိသေအပ်သော ဗလီကျောင်းတော်မှ တားဆီးခဲ့ကြ၏။ ထို့ပြင် (ဟုဒိုင်ဗိယဟ်၌) တားဆီးခြင်းခံနေခဲ့ရသော ကုရ်ဗာနီ သားကောင်ကိုလည်း ယင်း၏ ရောက်ရှိရန်နေရာသို့ မရောက်စေရန် (တားဆီးခဲ့ကြကုန်)။

---

(၁) ဆိုလိုသည်ကား - ဟုဒိုင်ဗိယဟ်တွင် တမန်တော်မြတ် ခေတ္တဆိုင်းငံ့နေတော်မူစဉ်၊ တမန်တော်မြတ်အား အခွင့်သင့်က လုပ်ကြံရန်အတွက် မက္ကာမြို့တော်၌ ကာဖိရ်၊ မုရှ်ရိစ်က်များ၏ တပ်စိတ်ကလေးများသည် ဟုဒိုင်ဗိယဟ်သို့ ရောက်ရှိလာခဲ့ကြ၏။ သို့ရောက်ရှိလာပြီး မွတ်စ်လင်မ်များအား ရန်စခဲ့ကြ၏။ မွတ်စ်လင်မ်တစ်ဦးကိုပင် သတ်ဖြတ်ခဲ့ကြသေး၏။ မွတ်စ်လင်မ်တို့အား မခံချိမခံသာဖြစ်စေသည့် စကားများကို ပြောဆိုကလိသွားခဲ့ကြသေး၏။ နောက်ဆုံးတွင် မွတ်စ်လင်မ်များသည် ယင်းကာဖိရ်တပ်စိတ်ကလေးကို အရှင်လတ်လတ်ဖမ်းဆီးပြီး တမန်တော်မြတ်ရှေ့တော်သို့ သွင်းခဲ့ကြ၏။ သို့တစေလည်း တမန်တော်မြတ်သည် သဘောထားကြီးစွာဖြင့် တစ်စုံတစ်ရာ အရေးယူတော်မမူဘဲ ၎င်းတို့အား လွတ်ငြိမ်းခွင့် ပေးတော်မူခဲ့လေသည်။ ဤအာယတ်တော်တွင် ယင်းသည့် ဖြစ်ရပ်များကိုပင် ရည်ညွှန်းမိန့်ဆိုထားတော်မူသည်။

အဆိုတစ်ရပ်အရ အထက်ဖော်ပြပါ ဖြစ်ရပ်သည် မက္ကာမြို့တော်ကို ပြန်လည်အောင်နိုင်သည့်နေ့တွင် ဖြစ်ပေါ်ခဲ့ခြင်း ဖြစ်သည်။ ကြည့် - အဗူစအူဒ်။

لَّمْ تَعْلَمُوهُمْ أَن تَطَـُٔوهُمْ فَتُصِيبَكُم مِّنْهُم مَّعَرَّةٌۢ بِغَيْرِ عِلْمٍ ۖ لِّيُدْخِلَ ٱللَّهُ فِى رَحْمَتِهِۦ مَن يَشَآءُ ۚ لَوْ تَزَيَّلُوا۟ لَعَذَّبْنَا ٱلَّذِينَ كَفَرُوا۟ مِنْهُمْ عَذَابًا أَلِيمًا ﴿٢٥﴾

စင်စစ်သော်ကား အကယ်၍သာ အသင်တို့ မသိခဲ့ကြသော (မြောက်မြားစွာသော)'မုအ်မင်န်' သက်ဝင်ယုံကြည်သူ ယောကျာ်း မိန်းမတို့အား တက်နင်းမိကြသဖြင့် ၎င်းတို့ကြောင့် အသင်တို့၌ အပြစ်သက်ရောက်မည်ကို မစိုးရိမ်ရပါလျှင် (အလုံးစုံသောကိစ္စတို့မှာ စီရင်ဆုံးဖြတ်ပြီး ဖြစ်ခဲ့မည်သာ။ သို့ရာတွင် ယင်းကဲ့သို့ မဖြစ်ခဲ့သည်မှာ) အလ္လာဟ်အရှင်မြတ်သည် မိမိအလိုရှိတော်မူသောသူအား မိမိကရုဏာတော်တွင်းသို့ ဝင်ရောက်စေတော်မူရန်ပင် ဖြစ်ခဲ့ပေသည်။ [၁]

အကယ်၍သာ ထို(မုစ်လင်မ် ယောကျာ်း မိန်းမတို့မှာ ကာဖိရ်များနှင့်) ခွဲခြား သိသာနိုင်ခဲ့ကြပါလျှင် ငါအရှင်မြတ်သည် ၎င်းတို့အနက် သွေဖည်ငြင်းပယ်ခဲ့ကြကုန်သော သူတို့အား ပြင်းပြစွာသော ပြစ်ဒဏ်ကို အမှန်ပင် ပေးတော်မူခဲ့မည်သာ။

---

(၁) ဟုဒိုင်ဗိယဟ်တွင် စစ်ပြေငြိမ်းရေးစာချုပ် ချုပ်စဉ် မွတ်စ်လင်မ်တို့အား ဂျိဟာဒ်ပြုလုပ်ခွင့် ပြုတော်မမူဘဲ စစ်ဖြစ်ပွားမှုကို တားဆီးတော်မူခဲ့ခြင်း၏ အကြောင်းမှာ - ထိုအချိန်တွင် မက္ကာမြို့၌ ဖိနှိပ်ချုပ်ချယ်ခြင်း ခံနေကြရရှာသော မွတ်စ်လင်မ်အမျိုးသမီး၊ အမျိုးသားများ ရှိနေခဲ့ကြ၏။ မွတ်စ်လင်မ်များသည် ၎င်းတို့အား ကောင်းစွာ မသိခဲ့ကြပေ။ ထိုသို့သော အခြေအနေတွင် စစ်ဖြစ်ပွားခဲ့ပါက မွတ်စ်လင်မ်များသည် မွတ်စ်လင်မ်များကို အချင်းချင်း မသိကြသည့်အတွက် ချေမှုန်းမိကြပေမည်။ သို့ဖြစ်ရပါက မွတ်စ်လင်မ်များသည်ပင် ဝမ်းနည်းကြေကွဲကြရပေမည်။ ထို့ပြင်တစ်ဝ ကျောင်းတော်ကိုလည်း မရှိမသေပြုရာ ရောက်ကြပေမည်။ ၎င်းနောက် ကာဖိရ်များကလည်း မွတ်စ်လင်မ်များသည် ၎င်းတို့အချင်းချင်းပင် မထောက်ထား မညှာတာဘဲ သတ်ဖြတ်ရက်ကြသည်ဟူ၍ ကဲ့ရဲ့ပြစ်တင် ပြောဆိုကြပေဦးမည်။

အထက်ဖော်ပြပါ အကြောင်းများကြောင့်ပင် အလ္လာဟ်အရှင်မြတ်သည် စစ်ဖြစ်ပွားမှုကို ပိတ်ပင်တားဆီးထားတော်မူခဲ့ခြင်း ဖြစ်ပေသည်။သို့စစ်မဖြစ်ပွားခဲ့သည့်အတွက် မက္ကာမြို့တွင်းရှိ မွတ်စ်လင်မ်များသည်လည်း အသက်ဘေးမှလွတ်မြောက်သွားခဲ့ကြရပေသည်။

တမန်တော်မြတ်နှင့် အတူတကွ လိုက်ပါလာခဲ့ကြသော မွတ်စ်လင်မ်များသည်လည်း သူမတူအောင် သည်းခံချုပ်တည်းနိုင်ခဲ့ ကြသည့်အတွက် အလ္လာဟ်အရှင်မြတ်၏ ကရုဏာတော်ကို ခိုလှုံခဲ့ကြရပေသည်။ ထို့ပြင်တစ်ဝ ကာဖိရ်များအနက် မွတ်စ်လင်မ်ဖြစ်ရန် (တတ်ကဒီရ်) ခေါ် အလ္လာဟ်အရှင်မြတ်၏ စီမံကိန်း၌ ပါရှိပြီးဖြစ်သော သူများသည်လည်း စစ်၏ဘေးဒဏ်မှ လွတ်မြောက်ပြီး အစ္စလာမ်အတွင်းသို့ ဝင်လာနိုင်ကြပေမည်။

إِذْ جَعَلَ الَّذِينَ كَفَرُوا فِي
قُلُوبِهِمُ الْحَمِيَّةَ حَمِيَّةَ
الْجَاهِلِيَّةِ فَأَنزَلَ اللَّهُ
سَكِينَتَهُ عَلَىٰ رَسُولِهِ وَعَلَى
الْمُؤْمِنِينَ وَأَلْزَمَهُمْ كَلِمَةَ
التَّقْوَىٰ وَكَانُوا أَحَقَّ بِهَا
وَأَهْلَهَا ۚ وَكَانَ اللَّهُ بِكُلِّ شَيْءٍ
عَلِيمًا ﴿٢٦﴾

၂၆။ (ပြန်လည် သတိရကြလေကုန်။) အကြင် အခါဝယ် 'ကာဖိရ်' သွေဖည်ငြင်းပယ်သောသူတို့သည် မိမိတို့၏ စိတ်နှလုံးများတွင် အမိုက်ခေတ်၏ အစွဲအလမ်းကြီးမှုကို ထားရှိခဲ့ကြကုန်၏။ ထိုအခါ အလ္လာဟ် အရှင်မြတ်သည် မိမိရစူလ်တမန်တော်၏ အပေါ်၌လည်းကောင်း၊ 'မုအ်မင်န်' သက်ဝင်ယုံကြည်သူတို့၏ အပေါ်၌လည်းကောင်း၊ *မိမိအထံတော်မှ စိတ်တည်ငြိမ်မှု (သည်းခံမှု)ကို ချပေးသနားတော်မူခဲ့၏။* [၁] ၎င်းပြင် ထိုအရှင်မြတ်သည် ၎င်းတို့အပေါ်၌ ကြဉ်ရှောင်ရန် ဟူသောစကားကို အတည်ပြုတော်မူခဲ့၏။(၎င်းပြင် အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့အား (တာက်ဝါ) တရားအပေါ်၌ ရပ်တည်စေတော်မူခဲ့၏။)

စင်စစ်သော်ကား ထိုသူတို့သည် ယင်းစကား နှင့် ထိုက်တန်သူများသည်လည်းကောင်း၊ ကိုက်ညီသူများသည်လည်းကောင်း၊ ဖြစ်ခဲ့ကြကုန်၏။ အမှန် စင်စစ်မှာမူကား အလ္လာဟ်အရှင်မြတ်သည် အရာ ခပ်သိမ်းတို့ကို ကောင်းစွာသိတော်မူသော အရှင်မြတ် ပင် ဖြစ်တော်မူပေသတည်း။

---

(၁) ဆိုလိုသည်ကား - မက္ကာမြို့သား ကာဖိရ်များ၏ စိတ်နှလုံးများတွင် (ဟမီယတုလ် ဂျာဟိလီယဟ်) အမိုက်ခေတ်၏ အစွဲအလမ်းကြီးမှု၊ မောက်မာမှု၊ ဇွတ်တရွတ်ပြုမှုသည် ယခုထက်တိုင် ငြိတွယ်လျက်ရှိ၏။ ယင်းသည့် မောက်မာ၊ ဇွတ်တရွတ်ပြုမှုကြောင့်ပင် ကာဖိရ်များက စစ်ပြေငြိမ်းရေးစာချုပ် ချုပ်ဆိုရာတွင် တမန်တော်မြတ်နှင့်တကွ မွတ်စ်လင်မ်များသည် ယခုနှစ်တွင် အွမ်ရဟ်မပြုကြရ။ မက္ကာမြို့မှ မွတ်စ်လင်မ် တစ်ဦးတစ်ယောက်သည် (ဟစ်ဂျ်ရတ်) ရွှေ့ပြောင်းသွားခဲ့ပါသော် တမန်တော်မြတ် ပြန်လည်ပို့ပေးရမည်။

မွတ်စ်လင်မ်များသည် နောင်နှစ် အွမ်ရဟ်ပြုရန် လာကြပါက မက္ကာမြို့တော်တွင် သုံးရက်သာလျှင် နေကြရမည်။ သို့လာရာတွင်လည်း လက်နက်များကို တပ်ဆင်ဆွဲကိုင် မလာကြရ။ စစ်ပြေငြိမ်းရေး စာချုပ်တွင်လည်း ( بِسْمِ اللَّهِ الرَّحْمَٰنِ الرَّحِيمِ ) 'ဗစ်မိလ္လာဟိရ်ရဟ္မာနိရ်ရဟီမ်' ဟူ၍ မရေးကြရ။ တမန်တော်မြတ်၏ အမည်နှင့်တွဲ၍ ( رسول الله ) 'ရစူလ်လုလ္လာဟ်' အလ္လာဟ်အရှင်မြတ်၏ တမန်တော်ဟူ၍ မရေးကြရ။ ( ابن عبد الله ) 'အစ်ဗ်နု အဗ်ဒုလ္လာဟ်' အဗ်ဒုလ္လာဟ်၏သား ဟူ၍သာ ရေးကြရမည် စသည်ဖြင့် တစ်ဖက်သတ်ကျလွန်းလှသော စည်းကမ်းများကို မတရား တောင်းဆို ခဲ့ကြခြင်းဖြစ်သည်။ ➢➢

لَقَدْ صَدَقَ اللّٰهُ رَسُوْلَهُ الرُّءْيَا بِالْحَقِّ لَتَدْخُلُنَّ الْمَسْجِدَ الْحَرَامَ اِنْ شَآءَ اللّٰهُ اٰمِنِيْنَ مُحَلِّقِيْنَ رُءُوْسَكُمْ وَمُقَصِّرِيْنَ لَا تَخَافُوْنَ فَعَلِمَ مَا لَمْ تَعْلَمُوْا فَجَعَلَ مِنْ دُوْنِ ذٰلِكَ فَتْحًا

၂၇။ ဧကန်မလွဲ အလ္လာဟ်အရှင်မြတ်သည် မိမိရစူလ်တမန်တော်၏ အိပ်မက်ကို အဖြစ်မှန်နှင့်အညီ မှန်ကန်စေတော်မူခဲ့၏။ ① (ယင်းအိပ်မက်မှာ) 'မလွဲဧကန် အလ္လာဟ်အရှင်မြတ် အလိုရှိတော်မူခဲ့လျှင် အသင်တို့သည် မိမိတို့၏ဦးခေါင်းများကို ရိတ်ကြလျက်၊ ဆံပင်များကို ညှပ်ကြလျက် (မည်သည့် တစ်စုံတစ်ရာကိုမျှပင်) စိုးရိမ်ကြောက်ရွံ့ခြင်း မရှိကြဘဲ ဘေးရန်ကင်းငြိမ်းစွာ 'မတ်စ်ဂျစ်ဒ်ဟရာမ်' ရှိသေအပ်သော ပလီဝတ်ကျောင်းတော်သို့ ဝင်ရောက်ကြမည်' (ဟု ဖြစ်ခဲ့၏။)

➤➤ တမန်တော်မြတ်သည် ယင်းသည့် တောင်းဆိုချက် အားလုံးကို လက်ခံတော်မူခဲ့၏။ မွတ်စ်လင်မ်များသည် လုံးဝမကျေနပ်ခဲ့ကြသော်လည်း တမန်တော်မြတ်၏ အဆုံးအဖြတ်ရှေ့တွင် ဦးညွှတ်ခဲ့ကြ၏။ နောက်ဆုံးတွင် အလ္လာဟ်အရှင်မြတ်သည် မိမိထံတော်မှ စိတ်တည်ငြိမ်မှုကို ချပေးတော်မူရာ မွတ်စ်လင်မ်များသည် တမန်တော်မြတ်၏ အဆုံးအဖြတ်ကို ကြည်ဖြူစွာကျေနပ်သွားခဲ့ကြလေသည်။

① ဤကဏ္ဍ၏ ပထမ အာယတ်တော်၏ အဖွင့်တွင် ရေးသားဖော်ပြပြီးဖြစ်သည့်အတိုင်း တမန်တော်မြတ်သည် မဒီနာမြို့တွင် 'ငါတို့သည် မက္ကာမြို့တော်သို့ အေးချမ်းသာယာစွာ သွားရောက်၍ အွမ်ရဟ် ပြုလုပ်ကြသည်'ဟူ၍ အိပ်မက် မြင်မက်တော်မူခဲ့၏။ မက္ကာမြို့တော်သို့ သွားရောက်ကြရမည့် အချိန်ကာလကိုမူ သတ်မှတ်ပြတော်မူခဲ့သည် မဟုတ်ပေ။ထိုသည့် အိမ်မက်အရ များစွာသော တပည့်သာဝကများက ငါတို့သည် ဤနှစ်အတွင်းမှာပင် မက္ကာမြို့တော်သို့ သွားရောက် အွမ်ရဟ်ပြုကြရတော့မည်ဟု ထင်မှတ်နေခဲ့ကြ၏။

အကြောင်းအားလျော်စွာ တမန်တော်မြတ်၌လည်း ဤနှစ်အတွင်းပင် အွမ်ရဟ်ပြုလုပ်ရန် ဆန္ဒဖြစ်ပေါ်လာခဲ့၏။ သို့နှင့် ဟုဒိုင်ဗိယဟ်တွင် စစ်ပြေငြိမ်းရေး စာချုပ် ချုပ်ဆိုပြီး ပြန်လာကြသည့်အခါ အချို့တပည့်သားများက တမန်တော်မြတ်ထံတွင် 'ငါတို့သည် မက္ကာမြို့တော်သို့ အေးချမ်းသာယာစွာ သွားရောက်ကြပြီး၊ အွမ်ရဟ်ပြုလုပ်ကြမည်ဟူ၍ တမန်တော်မြတ် မိန့်ကြားတော်မူခဲ့သည် မဟုတ်ပါလောဟု မေးလျှောက်ကြရာ၊ တမန်တော်မြတ်က 'ယင်းသို့ပြောခဲ့သည်မှာ မှန်ပါသည်။ သို့ရာတွင် ဤနှစ်အတွင်းမှာပင်ဟူ၍ ငါကပြောခဲ့ပါသလော' ဟု မေးမြန်းတော်မူရာ တပည့်သာဝကများက ထိုသို့ မိန့်ကြားတော်မူခဲ့သည် မရှိပါဟု လျှောက်ထားခဲ့ကြ၏။ ထိုအခါ တမန်တော်မြတ်က သို့ဖြစ်လျှင် ငါ၏အိမ်မက်အရ တစ်ရက် အသင်တို့သည် အေးချမ်းစွာ မက္ကာမြို့တော်သို့ မုချသွားရောက်ကြရမည်ဖြစ်သည်ဟု မိန့်တော်မူခဲ့လေသည်။ သို့မိန့်ကြားတော်မူခဲ့သည့်အတိုင်း တမန်တော်မြတ်နှင့်တကွ မွတ်စ်လင်မ်များသည် နောက်နှစ်တွင် ဟိဂျ်ရီသက္ကရာဇ် (၇)ခုနှစ်၊ ဇူကအ်ဒဟ်လ၌ မက္ကာမြို့တော်သို့ အေးချမ်းစွာ သွားရောက်၍ အွမ်ရဟ်ပြုခဲ့ကြလေသည်။ ဤသည်ကိုပင် ဤအာယတ်တော်တွင် ရည်ညွှန်းမိန့်ဆိုထားတော်မူသည်။

قَرِيبًا ﴿٢٧﴾

စင်စစ်မှာမူကား ထိုအရှင်မြတ်သည် အသင်တို့ မသိခဲ့ကြသောအရာကို သိရှိတော်မူခဲ့၏။ သို့ဖြစ်ပေရာ ထိုအရှင်မြတ်သည် ယင်းမက္ကာမြို့တော်၏ အလျင် နီးကပ်စွာသောအောင်မြင်မှုတစ်ရပ်ကို ချီးမြှင့် ပေးသနားတော်မူခဲ့၏။ [၁]

هُوَ الَّذِي أَرْسَلَ رَسُولَهُ بِالْهُدَىٰ وَدِينِ الْحَقِّ لِيُظْهِرَهُ عَلَى الدِّينِ كُلِّهِ ۚ وَكَفَىٰ بِاللَّهِ شَهِيدًا ﴿٢٨﴾

၂၈။ ထိုအရှင်မြတ်သည် အကြင်အရှင်မြတ်ပင်။ ထိုအရှင်မြတ်သည် မိမိရစူလ်တမန်တော် 'မုဟမ္မဒ်' (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)အား တရားလမ်းညွှန်နှင့်တကွလည်းကောင်း၊ မှန်ကန်သော 'ဒီန်' သာသနာတော်နှင့်တကွလည်းကောင်း၊ ယင်းသာသနာတော်ကို အားလုံးသော သာသနာတို့ထက်ဝယ် လွှမ်းမိုးစေတော်မူအံ့သောငှာ စေလွှတ်တော်မူခဲ့၏။ အမှန်သော်ကား အလ္လာဟ်အရှင်မြတ်သည်ပင် သက်သေအဖြစ်လုံလောက်တော်မူပေသတည်း။

مُحَمَّدٌ رَسُولُ اللَّهِ ۚ وَالَّذِينَ مَعَهُ أَشِدَّاءُ عَلَى الْكُفَّارِ رُحَمَاءُ بَيْنَهُمْ ۖ تَرَاهُمْ رُكَّعًا سُجَّدًا يَبْتَغُونَ فَضْلًا مِنَ اللَّهِ وَرِضْوَانًا ۖ سِيمَاهُمْ

၂၉။ မုဟမ္မဒ် [၂] သည် အလ္လာဟ်အရှင်မြတ်၏ ရစူလ်တမန်တော် ဖြစ်သည်။ ၎င်းပြင် ထို 'မုဟမ္မဒ်' နှင့်အတူတကွ ရှိကြကုန်သော သူတို့သည် 'ကာဖိရ်' သွေဖည်ငြင်းပယ်သူတို့နှင့်ပတ်သက်လျှင် ပြင်းထန်သူများဖြစ်ကြပြီး မိမိတို့အချင်းချင်း(ဆက်ဆံရာတွင်) သနားကြင်နာသူများပင် ဖြစ်ကြကုန်၏။ [၃]

---

① တမန်တော်မြတ်၏ အိမ်မက်အရ ချက်ချင်း အွမ်ရဟ်ပြုခွင့် မရရှိဘဲ တစ်နှစ်ကြာပြီးနောက်မှ အွမ်ရဟ်ပြုလုပ်ခွင့် ရခြင်း၌လည်း အကျိုးအမျိုးမျိုးရှိသည်။ ယင်းတို့ကို အလ္လာဟ်အရှင်မြတ်သာလျှင် သိတော်မူသည်။ လူသားတို့ မသိကြပေ။ အိမ်မက်အရ ချက်ချင်းအွမ်ရဟ် မပြုခဲ့ကြရသည်ကို ပြန်လည် ဖြည့်တင်းနိုင်ရန် အလို့ငှာ အလ္လာဟ်အရှင်မြတ်သည် မွတ်စ်လင်မ်တို့အား ခိုင်ဗရ်ကို အောင်နိုင်စေတော်မူခဲ့လေသည်။ ဤအာယတ်တော်တွင် ပါရှိသည့် နီးကပ်လျက်ရှိသော အောင်မြင်မှုဟူသည် ခိုင်ဗရ်အောင်မြင်မှုကိုပင် ဆိုလိုသည်။ ကြည့်-မာဂျိဒီ။

② **တမန်တော်မြတ် မုဟမ္မဒ်။**

တမန်တော်မြတ် မုဟမ္မဒ်(ဆွာလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် အလ္လာဟ်အရှင်မြတ်၏ တမန်တော် ဖြစ်သည်။ ကုရ်အာန်ကျမ်းမြတ် တစ်စောင်လုံးသည် တမန်တော်မြတ်အပေါ်၌ ကျခဲ့ပေရာ၊ ➢➢

فِي وُجُوهِهِم مِّنْ أَثَرِ السُّجُودِ ۚ
ذَٰلِكَ مَثَلُهُمْ فِي التَّوْرَاةِ ۚ وَمَثَلُهُمْ
فِي الْإِنجِيلِ كَزَرْعٍ أَخْرَجَ
شَطْأَهُ فَآزَرَهُ فَاسْتَغْلَظَ
فَاسْتَوَىٰ عَلَىٰ سُوقِهِ يُعْجِبُ
الزُّرَّاعَ لِيَغِيظَ بِهِمُ الْكُفَّارَ ۗ
وَعَدَ اللَّهُ الَّذِينَ آمَنُوا وَعَمِلُوا
الصَّالِحَاتِ مِنْهُم مَّغْفِرَةً
وَأَجْرًا عَظِيمًا ﴿٢٩﴾

အသင်သည် ၎င်းတို့အား (ရံဖန်ရံခါ) 'ရူကူအ်' ဦးညွတ်ကြလျက် (ရံဖန်ရံခါ) 'စဂျ်ဒဟ်' ပျပ်ဝပ်ဦးချကြလျက်၊ အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်ကိုလည်းကောင်း၊ (ထိုအရှင်မြတ်၏)နှစ်သက်ကျေနပ်မှုကိုလည်းကောင်း၊ ဖွေရှာဆည်းပူးလျက် ရှိကြသည်ကို တွေ့မြင်ရပေမည်။

၎င်းတို့၏ အမှတ်လက္ခဏာကား 'စဂျ်ဒဟ်' ပျပ်ဝပ်ဦးချခြင်းကြောင့် ၎င်းတို့၏ မျက်နှာများတွင် ထင်ပေါ်လျက် ရှိနေပေ၏။ ထိုသည်ကား 'တောင်ရာတ်' ကျမ်းတော်၌လာရှိသော ၎င်းတို့၏ထူးခြားချက်ပင်။ ထို့မှတစ်ပါး 'အင်န်ဂျီလ်' ကျမ်းတော်၌ လာရှိသော ၎င်းတို့၏ ထူးခြားချက်မှာကား (ဤသို့တည်း။) မျိုးစေ့နှင့်ပမာတူ၏။ ယင်းမျိုးစေ့သည် မိမိ၏ အစို့အညှောက်ကို ထွက်စေခဲ့၏။ ထို့နောက် မိမိအစို့အညှောက်ကို သန်စွမ်းစေခဲ့၏။

---

➤➤ ကုရ်အာန်ကျမ်းမြတ် တစ်စောင်လုံးသည်ပင် တမန်တော်မြတ်နှင့် ဆက်စပ်လျက်ရှိပေသည်။

တမန်တော်မြတ်၌ ဘွဲ့နာမည်များသည် အများအပြားရှိပေသည်။ တမန်တော်မြတ်၏ ကျော်ကြားသော နာမံတော်များမှာ 'မုဟမ္မဒ်' နှင့် 'အဟ်မဒ်' ပင်ဖြစ်သည်။ ကုရ်အာန်ကျမ်းမြတ်တွင် 'မုဟမ္မဒ်' ဟူသော နာမံတော်ကို (၄)နေရာတွင် တွေ့ရှိသည်။

⑨ ဆိုလိုသည်ကား သာသနာရေးတွင် လျော့လျည်းမဖြစ်ရာ။ တမန်တော်မြတ်နှင့်အတူ ရှိခဲ့ကြသော (ဆွဟာဗဟ်) တပည့်သား မွတ်စ်လင်မ်များသည် ကာဖိရ်များနှင့် မှားမုန်ပြိုင်ဆိုင်ရာတွင် အလွန်ပြတ်သားခဲ့ကြပေသည်။ လျော့လျည်း မဖြစ်ခဲ့ကြပေ။ မပျော့ခဲ့ကြပေ။ ကြည့်-ကုရ်အာန် (၉း၁၂၃။ ၉း၇၃။ ၅း၅၄)

မွတ်စ်လင်မ် အချင်းချင်း ဆက်ဆံရာတွင် အလွန်နူးညံ့ သိမ်မွေ့ခဲ့ကြပေသည်။

( الحُبُّ فى الله والبغض فى الله )

'အလ္လာဟ်အရှင်မြတ်အတွက်ပင် ချစ်၊ အလ္လာဟ်အရှင်မြတ်အတွက်ပင် မုန်း' ဟူသော ဩဝါဒတော်၏ အနက်သဘော မှာလည်း ဤသည်ပင်။

ဤဒေသနာတော်သည် မွတ်စ်လင်မ်တိုင်းနှင့် သက်ဆိုင်ပေသည်။ ဤဒေသနာတော်ပါ ဂုဏ်ရည်များကို တမန်တော်မြတ်၏ တပည့်သားများတွင် အထူးသဖြင့် ဟုဒိုင်ဗိယဟ် စစ်ပြေငြိမ်းရေးစာချုပ် ချုပ်ဆိုရာ၌ ပါဝင်ခဲ့ကြသော တပည့်သားများတွင် အပြည့်အဝ တွေ့ရှိရပေသည်။

ထို့နောက် ထိုအညှောက်အစို့မှာ တုတ်ခိုင်၍ လာပြီးလျှင် မိမိပင်ရိုး၊ ပင်တံ၊ ပင်စည်၊ ပင်မပေါ်၌ တည့်မတ်စွာ ထောင်တက် လာခဲ့ပေရာ လယ်သမားတို့အား အထူးနှစ်မြို့ အကြည်ဆိုက်စေခဲ့၏။ (ယင်းသို့ဖြစ်စေတော်မူခြင်းမှာ) ထို(မုဟမ္မဒ်၏အပေါင်းအဖော်)တို့ဖြင့် 'ကာဖိရ်' သွေဖည်ငြင်းပယ်သူတို့အား အမျက်ဒေါသထွက်စေရန် ဖြစ်ပေသည်။

အလ္လာဟ်အရှင်မြတ်မှာမူကား 'အီမာန်' သက်ဝင်ယုံကြည်ပြီးနောက် ကောင်းမှုများကို ကျင့်မှု ဆောက်တည်ကြကုန်သောသူတို့အား ခွင့်လွှတ်ချမ်းသာပေးတော်မူရန်နှင့် *ကြီးကျယ်လှစွာသော အကျိုးကို ချီးမြှင့်ပေးသနားတော်မူရန်ကတိပေးတော်မူခဲ့ပေသတည်း။* [၁]

---

(၁) **အလ္လာဟ်အရှင်မြတ်၏ ကတိတော်။**

အလ္လာဟ်အရှင်မြတ်အား စိတ်စေတနာ ဖြူစင်စွာဖြင့် အီမာန်သက်ဝင်ယုံကြည်၍ ထိုအရှင်မြတ်၏ အမိန့်တော်နှင့် လျော်ညီစွာ ကောင်းမြတ်သော အကျင့်သီလများကို ဆောက်တည်ကြကုန်သော သူမွန်သူမြတ်တို့အား အလ္လာဟ်အရှင်မြတ်က လွတ်ငြိမ်းချမ်းသာခွင့် ပေးတော်မူမည့်အကြောင်း၊ မြင့်မြတ်သော ဆုလာဘ်တော်များကို ချီးမြှင့်တော်မူမည့် အကြောင်း ဤအာယတ်တော်တွင် အတိအလင်း ကတိပြုထားတော်မူသည်။ တမန်တော်မြတ်၏ တပည့်သားအားလုံးတို့သည် ဤအာယတ်တော်လာ ဂုဏ်ရည်များနှင့် ကိုက်ညီခဲ့ကြသည်သာ ဖြစ်ပေသည်။

အလ္လာဟ်အရှင်မြတ်၏ ကတိတော်သည် မှန်ကန်သည်ချည်းသာဖြစ်ပေရာ၊ ကျွန်ုပ်တို့သည် ဉာဏ်စွမ်းရှိသမျှ၊ ကိုယ်စွမ်းရှိသမျှ ဤအာယတ်တော်နှင့် လျော်ညီစွာ လိုက်နာကျင့်မှုကြရာသတည်း။

# အတွင်းဆောင်များကဏ္ဍ




ဤကဏ္ဍသည် "စူရဟ်တုလ် ဟုဂျုရာတ်" အတွင်းဆောင်များ ကဏ္ဍမည်၏။
မဒီနာမြို့၌ ကျရောက်ခဲ့၏။
ဤကဏ္ဍတွင် အာယတ်တော် (၁၈)ပါး၊ ရကူအ် အပိုဒ်(၂)ပိုဒ်၊ အသီးသီးပါရှိ၏။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ ○

အနန္တ ကရုဏာတော်ရှင် ဖြစ်တော်မူသော၊
အစဉ်သနားကြင်နာ ညှာတာတော်မူသော၊
အလ္လာဟ်အရှင်မြတ်၏ နာမံတော်ဖြင့် အစပြုပါ၏။

يَاَيُّهَا الَّذِيْنَ اٰمَنُوْا لَا تُقَدِّمُوْا بَيْنَ يَدَيِ اللّٰهِ وَرَسُوْلِهٖ وَاتَّقُوا اللّٰهَ ۭ اِنَّ اللّٰهَ سَمِيْعٌ عَلِيْمٌ ①

၁။ အို-'မုအ်မင်န်' သက်ဝင်ယုံကြည်သူအပေါင်းတို့၊ အသင်တို့သည် (မည့်သည့်ကိစ္စ၌မဆို) အလ္လာဟ်အရှင်မြတ်၏ ရှေ့တော်မှောက်၌လည်းကောင်း၊ ထိုအရှင်မြတ်၏ ရစူလ်တမန်တော်၏ရှေ့၌လည်းကောင်း၊ ရှေ့သို့ *မကျော်တက်ကြကုန်လင့်။* [၁] ဧကန်မလွဲ အလ္လာဟ်အရှင်မြတ်သည် (အလုံးစုံသော ပြောဆိုမှုတို့ကို) အကြွင်းမဲ့ကြားတော်မူသောအရှင်၊ (အလုံးစုံသော အခြေအနေ၊ အပြုအမူ၊ အတွင်းအပြင်တို့ကို) အကြွင်းမဲ့သိတော်မူသောအရှင် ဖြစ်တော်မူပေသည်။

---

(၁) ဆိုလိုသည်ကား - အကြောင်းကိစ္စတစ်ရပ်တွင် ယင်းကိစ္စနှင့် စပ်လျဉ်း၍ အလ္လာဟ်အရှင်မြတ်နှင့် ထိုအရှင်မြတ်၏ ဘမန်တော်မြတ်ထံတော်မှ အမိန့်၊ အဆုံးအဖြတ် ရဖွယ်ရှိပါက ယင်းကိစ္စမျိုးတွင် အလျင်စလို မပြုရာ၊ ရှေ့မရောက်ရာ၊ ကြိုတင်၍ အဆုံးအဖြတ် မပေးရာ။ အလ္လာဟ်အရှင်မြတ်ထံတော်မှ အမိန့်တော်ကို စောင့်မျှော်ရမည်။
 တမန်တော်မြတ်က တစ်စုံတစ်ရာ မိန့်ကြားတော်မူပါလျှင် ဆိတ်ငြိမ်စွာ နားထောင်ရမည်။ တမန်တော်မြတ် မိန့်ကြားတော်မမူမီ အလျင် တစ်စုံတစ်ရာ မပြောဆိုရာ။ တမန်တော်မြတ်က တစ်စုံတစ်ရာ မိန့်ကြားတော်မူပါလျှင် ထိုအမိန့်ကို ကြည်ဖြူစွာ နာယူရမည်။ ကြက်တွန့်မတက်ရာ၊ ဆုတ်ဆိုင်း ဖင့်နွှဲခြင်း အလျှင်းမရှိစေရာ။ မိမိ၏ အလိုဆန္ဒ၊ မိမိ၏အကြံဉာဏ်များကို တမန်တော်မြတ်၏ အမိန့်တော်များထက် မေ့မှား၍မျှ ဦးစားမပေးရာ၊ ရှေ့မထားရာ။ မိမိ၏ အာသာဆန္ဒများကို အခါခပ်သိမ်း အလ္လာဟ်အရှင်မြတ်နှင့် တမန်တော်မြတ်၏ အမိန့်တော်များ၏ နောက်လိုက်သာ ဖြစ်စေရာသတည်း။

يَا أَيُّهَا الَّذِينَ آمَنُوا لَا تَرْفَعُوا أَصْوَاتَكُمْ فَوْقَ صَوْتِ النَّبِيِّ وَلَا تَجْهَرُوا لَهُ بِالْقَوْلِ كَجَهْرِ بَعْضِكُمْ لِبَعْضٍ أَنْ تَحْبَطَ أَعْمَالُكُمْ وَأَنْتُمْ لَا تَشْعُرُونَ ②

၂။ အို-မုအ်မင်န် သက်ဝင် ယုံကြည်သူအပေါင်းတို့၊ အသင်တို့သည် မိမိတို့၏အသံများကို နဗီတမန်တော်၏အသံထက် မကျယ်မမြင့် စေကြကုန်လင့်။ ထိုမှတပါး အသင်တို့သည် မိမိတို့အချင်းချင်း တစ်ဦးကိုတစ်ဦး ဟစ်အော်ကျယ်လောင်စွာ ပြောဆိုသကဲ့သို့ ထိုနဗီတမန်တော်နှင့် စကားပြောဆိုရာ၌ ဟစ်အော်ကျယ်လောင်စွာ ပြောဆိုခြင်းကို မပြုကြကုန်လင့်။ (သို့ပြုကြလျှင်) အသင်တို့ မသိကြဘဲလျက် အသင်တို့၏အပြုအမူများသည် အချည်းနှီးဖြစ်သွားပေမည်။ ၁

إِنَّ الَّذِينَ يَغُضُّونَ أَصْوَاتَهُمْ عِنْدَ رَسُولِ اللَّهِ أُولَٰئِكَ الَّذِينَ امْتَحَنَ اللَّهُ قُلُوبَهُمْ لِلتَّقْوَىٰ ۚ لَهُمْ مَغْفِرَةٌ وَأَجْرٌ عَظِيمٌ ③

၃။ ဧကန်မလွဲ အလ္လာဟ်အရှင်မြတ်၏ ရစူလ်တမန်တော်၏ရှေ့ဝယ် မိမိတို့၏အသံများကို နှိမ့်ချကြကုန်သောသူတို့သည်အကြင်သူများပင်။ အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့၏စိတ်နှလုံးများကို ပြစ်မှုများမှ ကြဉ်ရှောင်ခြင်းငှာ ရွေးချယ်တော်မူခဲ့၏။ ထိုသူတို့အဖို့ လွတ်ငြိမ်းချမ်းသာခွင့်သည်လည်းကောင်း၊ ကြီးကျယ်လှစွာသောအကျိုးသည်လည်းကောင်း၊ ရှိချေသတည်း။

---

(၁) ဆိုလိုသည်ကား - တမန်တော်မြတ်၏ ရှေ့မှောက်တွင် ဆူဆူညံညံမပြုရာ ဟစ်အော် ကျယ်လောင်စွာ မပြောဆိုရာ။ အချင်းချင်း အားမနာတမ်း ပြောဆိုသကဲ့သို့ တမန်တော်မြတ်နှင့် ဆက်ဆံရာတွင် ယင်းသို့ ပြောဆိုခြင်းသည် မရိုသေ၊ မလေးစား၊ မခန့်ညားရာ ရောက်သည်။

တမန်တော်မြတ်နှင့် ပြောဆိုရာတွင် ရိုသေခန့်ညားစွာဖြင့် ယဉ်ကျေးသိမ်မွေ့စွာဖြင့် နူးညံ့သိမ်မွေ့သော အသံဖြင့် ပြောဆိုရာသည်။ လိမ္မာသော သားသည် ဖခင်နှင့်စကားပြောဆိုရာတွင်၊ သိမ်မွေ့သော တပည့်သည် ဆရာနှင့် စကားပြောဆိုရာတွင် အဘယ်မျှ ယဉ်ကျေးသိမ်မွေ့စွာ ပြောဆိုကြသည်ကို သူငါအများ အသိပင်။ တမန်တော်မြတ်၏ အဆင့်အတန်းသည် ထိုထိုသော ဖခင်၊ ဆရာ စသည်တို့ထက် အတိုင်းမသိမြင့်မားလှသည် ဖြစ်ရာကား၊ တမန်တော်မြတ်နှင့် စကားပြောဆိုရာတွင် အထူး သတိဝီရိယကြီးစွာဖြင့် ရိုသေခန့်ညားကာ ယဉ်ကျေးသိမ်မွေ့စွာ ပြောဆိုရပေမည်။ မရိုသေမလေးစားသော အမူအရာ အနည်းငယ် စိုးစဉ်မျှပင် မပေါ်စေရာ။ သို့မရိုသေ။ မလေးစားသောအမူအရာ ပေါ်ရှိသွားပါက တမန်တော်မြတ် စိတ်ဆင်းရဲတော်မူပေမည်။ တမန်တော်မြတ် စိတ်ဆင်းရဲရတော်မူပါက သို့တမန်တော်မြတ်အား စိတ်ဆင်းရဲတော်မူရသည်အထိ ရိုင်းပြစွာ ပြောဆိုသောသူ၏ အပြစ်ကား ကြီးမားလှပါဘိတကား။ ထိုသို့သောသူ၏ ကောင်းမှုကုသိုလ်များသည်ပင် အချည်းနှီး ဖြစ်သွားနိုင်ပေ သည်။ သို့ဖြစ်ရာ တမန်တော်မြတ်အား အထူးချစ်ကြည်လေးစားမြတ်နိုးရာသတည်း၊ မေ့မှား၍မျှ မရိုမသေ၊ မလေးမစား၊ မခန့်မညားမပြုရာ။

إِنَّ ٱلَّذِينَ يُنَادُونَكَ مِن وَرَآءِ ٱلْحُجُرَٰتِ أَكْثَرُهُمْ لَا يَعْقِلُونَ ④

၄။ ဧကန်စင်စစ် အသင့်အား အခန်းများ၏ အပြင်ဘက်မှ ဟစ်ခေါ်ကြကုန်သော သူတို့အနက် အများစုမှာ မသိ နားမလည်ကြပေ။

وَلَوْ أَنَّهُمْ صَبَرُوا۟ حَتَّىٰ تَخْرُجَ إِلَيْهِمْ لَكَانَ خَيْرًا لَّهُمْ ۚ وَٱللَّهُ غَفُورٌ رَّحِيمٌ ⑤

၅။ စင်စစ်သော်ကား အကယ်၍သာ ၎င်းတို့သည် အသင် ၎င်းတို့ထံ *ထွက်လာသည်အထိ သည်းခံခဲ့ကြပါလျှင် ၎င်းတို့အဖို့ အကောင်းဆုံးပင် ဖြစ်ခဲ့ပေမည်။* [၁] အမှန်သော်ကား အလ္လာဟ်အရှင်မြတ်သည် လွန်စွာခွင့်လွှတ်ချမ်းသာပေးတော်မူသော အရှင်၊ လွန်စွာ သနားကရုဏာပြုတော်မူသောအရှင်၊ ဖြစ်တော်မူပေသတည်း။

---

(၁) တစ်နေ့သော် ဗနီတမီမ်မျိုးနွယ်ဝင်များသည် တမန်တော်မြတ်နှင့်တွေ့ဆုံရန် တမန်တော်မြတ်ထံ ရောက်ရှိလာခဲ့ကြ၏။ ထိုအချိန်တွင် တမန်တော်မြတ်သည် အဆောင်တော်တွင်း ရှိနေတော်မူခဲ့၏။ ဗနီတမီမ် မျိုးနွယ်ဝင်များသည် တမန်တော်မြတ်နှင့်တွေ့လိုသည့် စိတ်ဇောဖြင့် အဆောင်တော်အပြင်မှ (يامحمداخرج الينا) 'ယာ-မုဟမ္မဒ်၊ အွခ်ရုဂျ်အေ့ လိုင်နာ'၊ 'အို-မုဟမ္မဒ် ကျွန်ုပ်တို့ထံ အပြင်သို့လာပါ'ဟု အော်ဟစ်ခဲ့ကြ၏။ ဤသည် အသိဉာဏ်ကင်းမှုပင်၊ မရိုသေ မလေးစား မခန့်ညားမှုပင်၊ ရိုင်းစိုင်းမှုပင်။ ၎င်းတို့သည် တမန်တော်မြတ်၏ ကြီးကဲမြင့်မြတ်လှသော အဆင့်အတန်းကို မသိခဲ့ကြပေ။

ထိုအချိန်တွင် တမန်တော်မြတ်အပေါ်သို့ (ဝဟီ) အာယတ်တော်များ ကျရောက်နေသည်လည်း ဖြစ်နိုင်ပေသည်။ သို့တည်းမဟုတ် အလွန်အရေးကြီးသော ကိစ္စတစ်ခုခုတွင် လုံးပန်းနေတော်မူသည်လည်း ဖြစ်နိုင်ပေသည်။

တမန်တော်မြတ်သည် မွတ်စ်လင်မ် တစ်မျိုးသားလုံး၏ မိခိုအားထားရာ ဖြစ်တော်မူပေရာ၊ လောကီ၊ လောကုတ္တရာဆိုင်ရာ ပြဿနာ အဖြာဖြာကို ဆောင်ရွက်တော်မူနိုင်ရန် အချိန်ဇယား ပြုလုပ် ထားတော်မူ၏။ သို့မဟုတ်ပါမူ တမန်တော်မြတ်အဖို့ မဆိုထားနှင့်၊ သာမန် တာဝန်ရှိသော ပုဂ္ဂိုလ်တစ်ဦးအဖို့ပင် အလုပ်လုပ်ရန် လွန်စွာအခက်အခဲ ဖြစ်ပေမည်။

ဗနီတမီမ် မျိုးနွယ်ဝင်များသည် ယင်းသို့ တမန်တော်မြတ်အား အဆောင်တော်အပြင်မှ အော်ကြီးဟစ်ကျယ်မပြုဘဲ တစ်ဦးတစ်ယောက်အား အဆောင်တော်အတွင်းသို့ စေလွှတ်၍ မိမိတို့ ရောက်ရှိနေကြောင်း အသိပေးသင့်ကြပေသည်။ တမန်တော်မြတ်အပြင်သို့ ကြွလာတော်မူသည်အထိ သည်းခံ၍ စောင့်ဆိုင်းနေသင့်ကြပေသည်။ တမန်တော်မြတ်အပြင်သို့ ကြွလာပြီး မိမိတို့ဘက်သို့ အာရုံပြုတော်မူသည့်အခါကျမှ မိမိတို့ တင်ပြလိုသည်များကို ယဉ်ကျေးသိမ်မွေ့စွာ လျှောက်ထားသင့်ကြပေသည်။ ဤသို့ ပြုလုပ်ခြင်းသည် ၎င်းတို့အဖို့ ပို၍ပင် သင့်မြတ်ပေမည်။

အစ္စလာမ်၏ စုစည်းမှုသည် အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ရိုသေ ခန့်ညားမှုနှင့် ➤➤

يَٰٓأَيُّهَا ٱلَّذِينَ ءَامَنُوٓا۟ إِن جَآءَكُمْ فَاسِقٌۢ بِنَبَإٍ فَتَبَيَّنُوٓا۟ أَن تُصِيبُوا۟ قَوْمًۢا بِجَهَٰلَةٍ فَتُصْبِحُوا۟ عَلَىٰ مَا فَعَلْتُمْ نَٰدِمِينَ ٦

၆။ အို–'မုအ်မင်န်' သက်ဝင်ယုံကြည်သူအပေါင်းတို့၊ အကယ်၍ စာရိတ္တဖောက်ပြန်သူ တစ်ဦးတစ်ယောက်သည် အသင်တို့ထံ တစ်စုံတစ်ရာ သတင်းကို ယူဆောင်လာခဲ့သည်ရှိသော် အသင်တို့သည် မသိဘဲလျက် လူမျိုးတစ်မျိုးကို အန္တရာယ် မပြုမိကြရန် (ယင်းသတင်း)မှန်မမှန်ကို (စူးစမ်း) စစ်ဆေးကြလေကုန်။ (သို့မဟုတ်လျှင်) အသင်တို့သည် မိမိတို့ပြုမိခဲ့ကြသောကိစ္စကြောင့် ကြေကွဲကြရပေမည်။ ၁

---

➤➤ တမန်တော်မြတ်အား ချစ်ကြည်လေးစားမှု၌ တည်ရှိနေပေရာ မွတ်စ်လင်မ်တို့သည် အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ရိုသေ ခန့်ညား၍ တမန်တော်မြတ်အား ချစ်ကြည် လေးစားကြရမည်သာတည်း။

ဤအာယတ်တော်တွင် ပါရှိသော (ဟုဂျုရာတ်)အခန်းများ၊ အဆောင်များဟူသည် တမန်တော်မြတ်၏ ကြင်ရာတော်များ နေထိုင်ကြသော အဆောင်များကို ဆိုလိုသည်။ ကြည့်–အဗူစုအုဒ်။

(၁) များစွာသော အငြင်းပွားမှု ခိုက်ရန်ဖြစ်မှု၊ ကွဲပြားမှုများသည် မမှန်သတင်းများမှ စတင်ဖြစ်ပေါ်လာသည်မှာ များသည်။ ထို့အတွက်ကြောင့် ဤအာယတ်တော်တွင် ယင်းအငြင်းပွားမှု၊ ခိုက်ရန်ဖြစ် ပွားမှု၊ ကွဲပြားမှုများ ဖြစ်ပေါ်စေမည့် ရေသောက်မြစ်ကို ဖြတ်တောက်ပိတ်ပင်ထားတော်မူသည်။

ဆိုလိုသည်ကား – မည်သည့်သတင်းစကားကိုမျှ မစုံစမ်း၊ မဆင်ခြင်ပဲ လက်မခံရာ၊ ဥပမာ– လူရုပ်၊ လူပွေ တစ်ယောက်က လူတစ်စုနှင့်ပတ်သက်၍ မိမိမကျေနပ်မှုတစ်ခုခုကြောင့် မမှန်သတင်းလွှင့်ခဲ့သော်၊ အသင်တို့သည်လည်း ထိုသူ၏ စကားကို ယုံ၍ အဆိုပါ လူတစ်စုအား စိတ်လိုက် မာန်ပါ တိုက်ခိုက်ကြသော်၊ သို့ ကိုယ်ထိလက်ရောက် တိုက်ခိုက်ပြီးနောက်မှ အဆိုပါသတင်းမမှန်ကြောင်း သိရှိကြသော်၊ ထိုအချိန်တွင် အသင်တို့သည် တစ်ယောက်စကားကို မစုံစမ်းမဆင်ခြင်ဘဲ ယုံစား၍ လက်ရောက် ပြုမိကြသည့်အတွက် ကြေကွဲကြရပေမည်။ ဝမ်းနည်းကြရပေမည်။ ဤသို့ဖြင့် မေတ္တာပျက်ပြားမည်။ အစ္စလာမ်၏ စုစည်းမှုကြီးသည်လည်း ပြိုကွဲသွားပေမည်။ ဤသို့ကား အလျှင်းမဖြစ်စေရာ။

(ဖုကဟာ) ဓမ္မသတ်ရှင်များသည် ဤအာယတ်တော်ကို အကြောင်းပြု၍ အောက်ပါအတိုင်း ဓမ္မသတ်များပင် ရေးမှတ်ထားခဲ့ကြပေသည်။

(၁) မည်သူမည်ဝါသည် 'မုရ်တဒ်' ဖြစ်နေသည်။ မည်သူမည်ဝါသည် သူတစ်ပါးအား လုပ်ကြံနေသည် – စသည်ဖြင့် သတင်းစကားကို (ခလီဖဟ်) မွတ်စလင်မ်သမ္မတက ကြားရသည်ရှိသော် ယင်းသတင်းစကားကို စုံစမ်း ထောက်လှမ်းခြင်းသည် ဝါဂျိဗ် ဖြစ်သည်။ အချိန်မီ မစုံစမ်း မထောက်လှမ်းပါက ဝါဂျိဗ် တာဝန်ကို ပျက်ကွက်ရာရောက်သည်။

(၂) မည်သူမည်ဝါသည် မိမိ၏ ဥစ္စာပစ္စည်းကိုသော်လည်းကောင်း၊ ကိုယ်ခန္ဓာကိုသော်လည်းကောင်း၊ အန္တရာယ်ပြုလိုသည်ဟု ကြားသော်၊ အန္တရာယ်ကို ကာကွယ်ရန်အတွက် အဆိုပါသတင်းနှင့်စပ်လျဉ်း၍ စုံစမ်း ထောက်လှမ်းခြင်းသည် (ဂျာအဇ်) ပြုပိုင်သည်။ 

وَاعْلَمُوْٓا اَنَّ فِيْكُمْ رَسُوْلَ اللّٰهِ ؕ لَوْ يُطِيْعُكُمْ فِيْ كَثِيْرٍ مِّنَ الْاَمْرِ لَعَنِتُّمْ وَلٰكِنَّ اللّٰهَ حَبَّبَ اِلَيْكُمُ الْاِيْمَانَ وَزَيَّنَهٗ فِيْ قُلُوْبِكُمْ وَكَرَّهَ اِلَيْكُمُ الْكُفْرَ وَالْفُسُوْقَ وَالْعِصْيَانَ ؕ اُولٰٓئِكَ هُمُ الرّٰشِدُوْنَ ﴿٧﴾

၇။ ၎င်းပြင် အသင်တို့သည် မိမိတို့၌ အလ္လာဟ် အရှင်မြတ်၏ ရစူလ်တမန်တော်ရှိနေတော်မူသည်ကို (ကောင်းစွာ) သိထားကြလေကုန်။

အကယ်၍ ထိုရစူလ်တမန်တော်မြတ်သည် များစွာသော အရေးကိစ္စတို့၌ အသင်တို့၏ ပြောဆိုချက်ကို လိုက်နာပါလျှင် အမှန်ပင် အသင်တို့သာလျှင် ဒုက္ခတွေ့ကြမည်သာ။ သို့ရာတွင် အလ္လာဟ်အရှင်မြတ်သည် အသင်တို့အား 'အီမာန်' သက်ဝင်ယုံကြည်မှုကို နှစ်သက်မြတ်နိုးစေတော်မူခဲ့၏။ ထို့ပြင် ယင်း 'အီမာန်' ယုံကြည်မှုကို အသင်တို့၏စိတ်နှလုံးများတွင် မြတ်နိုးစေတော်မူခဲ့၏။ လှပ တင့်တယ်စေတော်မူခဲ့၏။ ထိုမှတပါး ထိုအရှင်မြတ်သည် အသင်တို့အား 'ကုဖ်ရ်' သွေဖည်မှုကိုလည်းကောင်း၊ ပြစ်မှု ကျူးလွန်ခြင်းကိုလည်းကောင်း၊ အမိန့်မနာခံမှုကိုလည်းကောင်း၊ စက်ဆုပ်စေတော်မူခဲ့၏။

ယင်းကဲ့သို့သော သူတို့သည်သာလျှင် လမ်းမှန်ကို ရရှိသူများ ဖြစ်ကြကုန်၏။

فَضْلًا مِّنَ اللّٰهِ وَنِعْمَةً ؕ وَاللّٰهُ عَلِيْمٌ حَكِيْمٌ ﴿٨﴾

၈။ အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်ကြောင့်လည်းကောင်း၊ ဆုချီးမြှင့်တော်မူခြင်းကြောင့်လည်းကောင်း၊ အမှန်စင်စစ်သော်ကား အလ္လာဟ်အရှင်မြတ်သည် (အရာခပ်သိမ်းတို့ကို) အကြွင်းမဲ့သိတော်မူသော အရှင်၊ ဆင်ခြင်တုံတရားနှင့် ပြည့်စုံတော်မူသောအရှင် ဖြစ်တော်မူပေသတည်း။

---

➢➢ (၃) မည်သူမည်ဝါသည် လျှို့ဝှက်စွာ သေရည်အရက်သောက်သည်ဟု သတင်းကြားသော် ယင်းသတင်းစကားနှင့် စပ်လျဉ်း၍ မစုံစမ်း မထောက်လှမ်းပါက မိမိ၌ တစ်စုံတစ်ရာနစ်နာသည်မရှိ။ စုံစမ်းထောက်လှမ်းပါက တစ်ဖက်သားသည် အရက်တကွဲ အကျိုးနည်းဖြစ်ရမည်။ ဤအခြေအနေတွင် သတင်းစုံစမ်းထောက်လှမ်းခြင်းသည် (ဟရာမ်) ဖြစ်သည်။ အလျှင်းမပြုပိုင်။ ကြည့် - မာရိဒီ၊ ထာနဝီ။

وَاِنۡ طَآٮِٕفَتٰنِ مِنَ الۡمُؤۡمِنِيۡنَ اقۡتَتَلُوۡا فَاَصۡلِحُوۡا بَيۡنَهُمَا‌ ۚ فَاِنۡۢ بَغَتۡ اِحۡدٰٮهُمَا عَلَى الۡاُخۡرٰى فَقَاتِلُوا الَّتِىۡ تَبۡغِىۡ حَتّٰى تَفِىۡٓءَ اِلٰٓى اَمۡرِ اللّٰهِ‌ ۚ فَاِنۡ فَآءَتۡ فَاَصۡلِحُوۡا بَيۡنَهُمَا بِالۡعَدۡلِ وَاَقۡسِطُوۡا‌ ؕ اِنَّ اللّٰهَ يُحِبُّ الۡمُقۡسِطِيۡنَ ۝٩

၉။ ၎င်းပြင် အကယ်၍ 'မုအ်မင်န်' သက်ဝင်ယုံကြည်သူတို့အနက်မှ အုပ်စုနှစ်စုသည် အချင်းချင်း စစ်တိုက်ခဲ့ကြလျှင် အသင်တို့သည် ယင်းအုပ်စုနှစ်စု၏ အကြားဝယ် စစ်ပြေငြိမ်းအောင် ပြုလုပ်ဆောင်ရွက်ကြလေကုန်။ သို့ရာတွင် အကယ်၍ ယင်းအုပ်စုနှစ်စု အနက်မှ အုပ်စုတစ်စုသည် (စစ်ပြေငြိမ်းမှုကို လက်မခံဘဲ ဆက်လက်၍) အခြားအုပ်စုအပေါ်၌ မတရား ကျူးကျော်လာခဲ့လျှင် အသင်တို့သည် ယင်းကျူးကျော်လျက် ရှိသောအုပ်စုကို ၎င်းတို့သည် အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်ဘက်သို့ ပြန်၍ လှည့်လာကြသည်အထိ ပြိုင်ဆိုင် တိုက်ခိုက်ကြလေကုန်။

တစ်ဖန် အကယ်၍ ထိုအုပ်စုသည် (အလ္လာဟ်အရှင်မြတ်၏အမိန့်တော်ဘက်သို့) ပြန်လှည့်လာခဲ့လျှင် အသင်တို့သည် ယင်းအုပ်စုနှစ်စု၏အကြား၌ တရားသဖြင့် စေ့စပ်၍ပေးကြလေကုန်။ ထို့မှတပါး အသင်တို့သည် တရားမျှတစွာ ဆောင်ရွက်ကြလေကုန်။ စင်စစ်အမှန် *အလ္လာဟ်အရှင်မြတ်သည် တရားမျှတသောသူတို့အား ချစ်မြတ်နိုးတော်မူ၏။* [၁]

---

① **အချင်းချင်း ရန်မီးငြိမ်းသတ်နည်း။**

အထက်တွင် မွတ်စ်လင်မ်တို့၏ စုစည်းမှု၊ ညီညွတ်မှု၊ ချစ်ကြည်မှု မပျက်ပြားစေရန် အလို့ငှာ စည်းကမ်းချက် အမျိုးမျိုး သတ်မှတ်ထားတော်မူသည်။ ဘောင်ခတ်ထားတော်မူသည်။ ထိုသည့် အထဲမှပင် အကြောင်းအားလျော်စွာ မရှောင်လွှဲနိုင်ဘဲ မွတ်စ်လင်မ် အုပ်စု ၂-ခုသည် အချင်းချင်း တိုက်ခိုက်ကြသော် ကျန်မွတ်စ်လင်မ်များသည် မိမိတို့၏ ညီနောင်များဖြစ်သော ထိုမွတ်စ်လင်မ်အုပ်စု ၂-ခုစပ်ကြားတွင် ပြေလည်စေရန် အစွမ်းကုန် ကြိုးစားကြရမည်။ သို့ကြိုးစားပါလျက် မအောင်မြင်သော်၊ အုပ်စုတစ်စုသည် အခြားအုပ်စုအပေါ်၌ မတရားကျူးကျော်စော်ကားလာခဲ့သော်၊ ကျန်မွတ်စ်လင်မ်များသည် လက်ပိုက်၍ ပွဲကြည့်မနေကြရာ၊ ဘေးထိုင်မနေကြရာ။ မွတ်စ်လင်မ် အားလုံးတို့သည် စုပေါင်း၍ မတရားကျူးကျော်စော်ကားလာသော အုပ်စုကို အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်ဘက်သို့ ပြန်လည် ယိမ်းယိုင်လာသည်အထိ တိုက်ခိုက်ကြရမည်။

သို့တိုက်ခိုက်၍ ကျူးကျော်စော်ကားလာသောအုပ်စုသည် အမြင်မှန်ရကာ စစ်ပြေငြိမ်းရန် ပြောဆိုလာသည့်အခါ၊ ကျန်မွတ်စ်လင်မ်များသည် အဆိုပါ အုပ်စု ၂-ခုကြားတွင် အနည်းငယ်စိုးစဉ်မျှ ဘက်မလိုက်ပဲ၊ တရားမျှတစွာဖြင့် ပြန်လည် စေ့စပ်ပေးကြရမည်။ ဤကား မွတ်စ်လင်မ် အချင်းချင်း ရန်မီးငြိမ်းသတ်နည်းပင်။

إِنَّمَا الْمُؤْمِنُونَ إِخْوَةٌ فَأَصْلِحُوا بَيْنَ أَخَوَيْكُمْ وَاتَّقُوا اللَّهَ لَعَلَّكُمْ تُرْحَمُونَ ﴿١٠﴾

၁၀။ 'မုအ်မင်န်' သက်ဝင်ယုံကြည်သူတို့မှာ (အချင်းချင်း) ညီအစ်ကိုများသာဖြစ်ကုန်၏။ သို့ဖြစ်ပေရာ အသင်တို့သည် မိမိတို့၏ ညီအစ်ကိုနှစ်ယောက်၏ စပ်ကြားဝယ် ရန်ငြိမ်းအောင်(စေ့စပ်မှုကို) ပြုလုပ်ဆောင်ရွက်ကြလေကုန်။ ထိုမှတပါး အသင်တို့သည် အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ကြလေကုန်။ သို့မှသာလျှင် အသင်တို့သည် သနားကရုဏာပြုတော်မူခြင်းကို ခံကြရကုန်အံ့သတည်း။ [၁]

---

① မွတ်စ်လင်မ်များသည် ညီနောင်များသာ ဖြစ်ကြသည်။

မွတ်စ်လင်မ်များသည် အစ္စလာမ့်ညီနောင်များသာလျှင် ဖြစ်ကြပေသည်။တမန်တော်မြတ်က -

'မွတ်စ်လင်မ်များသည် မွတ်စ်လင်မ်၏ ညီနောင်ဖြစ်သည်။ အချင်းချင်း မကျူးကျော်မစော်ကားရ၊ ဒုက္ခမပေးရ' ဟူ၍လည်းကောင်း၊

'လူတစ်ယောက်သည် မိမိ၏ ညီနောင်အား ကူညီရိုင်းပင်နေသမျှ ကာလပတ်လုံး အလ္လာဟ်အရှင်မြတ်သည် ထိုသူအား ကူညီ ရိုင်းပင်းတော်မူသည်သာ ဖြစ်သည်' ဟူ၍လည်းကောင်း၊

မွတ်စ်လင်မ်တစ်ဦးသည် မိမိ၏ ညီနောင်အတွက် နောက်ကွယ်ရာတွင် ဆုပန်ကြားပါက ကောင်းကင်တမန်က (အာမီန်)ဤအတိုင်းဖြစ်ပါစေ၊ အသင်သည်လည်း မိမိ ထိုဆုပန်ကြားသည်နှင့်အမျှ ရသည်ဖြစ်ပါစေဟု ဆိုလေသည်' ဟူ၍လည်းကောင်း၊

'မွတ်စ်လင်မ်တို့သည် အချင်းချင်း မေတ္တာ၊ ကရုဏာ၊ ဆက်ဆံရာတွင် ကိုယ်ခန္ဓာတစ်ခုတည်းကဲ့သို့ ဖြစ်ကြသည်။ ကိုယ်ခန္ဓာ၏ အစိတ်အပိုင်းတစ်ခု နာကျင်လျှင် ခန္ဓာတစ်ခုလုံး နာကျင်သည်သာ ဖြစ်သည်' ဟူ၍လည်းကောင်း၊

'မွတ်စ်လင်မ်များသည် အုတ်နံရံနှင့် တူသည်။ အုတ်နံရံရှိ အချို့အစိတ်အပိုင်းများသည် အချို့အစိတ်အပိုင်းများကို ခိုင်မာ တောင့်တင်းစေလျှက်ရှိသည်' ဟူ၍လည်းကောင်း၊

အမျိုးမျိုးပုံဆောင်ကာ လေးနက်စွာ မိန့်ကြားတော်မူခဲ့ပေသည်။ မွတ်စ်လင်မ်များသည် အချင်းချင်း ညီနောင်များဖြစ်ကြပေရာ၊ ရန်ခိုက် ဒေါသဖြစ်ရန်ပင် အကြောင်းမရှိပေ။

ထိုသို့သော မွတ်စ်လင်မ်ညီနောင်များသည် အကယ်တည့် ခိုက်ရန်ဖြစ်ပွားကြပါက ညီနောင်ချင်း ခိုက်ရန် ဖြစ်ပွားခြင်းသာ ဖြစ်ပေရာ၊ ကျန် မွတ်စ်လင်မ်များသည် လျစ်လျူပြုမနေကြရာ၊ ကိုယ်စွမ်းရှိသမျှ၊ ဉာဏ်စွမ်းရှိသမျှ ပြေလည်အောင် ဆောင်ရွက်ပေးကြရမည်။ စေ့စပ်ပေးကြရမည်။ သို့စေ့စပ်ပေးရာတွင် အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ရိုသေ ခန့်ညားကာ တရားမျှတမှုကို ရှေးရှုကြရမည်။ အနည်းငယ်စိုးစဉ်းမျှ တစ်ဘက်ဘက်သို့ မယိမ်းယိုင်ကြရာ ဘက်မလိုက်ကြရာ။ သို့ဖြစ်လျှင်၊ အလ္လာဟ်အရှင်မြတ်၏ ကရုဏာတော်ကို အားလုံး ခံစားကြရပေမည်။

يَٰٓأَيُّهَا ٱلَّذِينَ ءَامَنُوا۟ لَا يَسْخَرْ قَوْمٌ مِّن قَوْمٍ عَسَىٰٓ أَن يَكُونُوا۟ خَيْرًا مِّنْهُمْ وَلَا نِسَآءٌ مِّن نِّسَآءٍ عَسَىٰٓ أَن يَكُنَّ خَيْرًا مِّنْهُنَّ ۖ وَلَا تَلْمِزُوٓا۟ أَنفُسَكُمْ وَلَا تَنَابَزُوا۟ بِٱلْأَلْقَٰبِ ۖ بِئْسَ ٱلِٱسْمُ ٱلْفُسُوقُ بَعْدَ ٱلْإِيمَٰنِ ۚ وَمَن لَّمْ يَتُبْ فَأُو۟لَٰٓئِكَ هُمُ ٱلظَّٰلِمُونَ ﴿١١﴾

**၁၁။** အို–'မုအ်မင်န်' သက်ဝင်ယုံကြည်သူအပေါင်းတို့၊ ယောကျ်ားများသည် ယောကျ်ားအား သရော်သမှုမပြုရ။ (အကြောင်းသော်ကား) ထို(သရော်သမှုပြုခြင်းခံကြရသော) ယောကျ်ားများသည် ထို(သရော်သောယောကျ်ား)တို့ထက်ပို၍ ကောင်းမြတ်သူများဖြစ်တန်ကြရာကုန်၏။ ထိုနည်းတူစွာ မိန်းမများသည်လည်း မိန်းမများအား သရော်သမှု မပြုကြရ။ ထို(သရော်သမှုပြုခြင်းကို ခံကြရသော)မိန်းမများသည် ထို(သရော်ကြသော မိန်းမ)များထက် ပို၍ ကောင်းမြတ်သူများ ဖြစ်တန်ကြရာကုန်၏။

ငှင်းပြင် အသင်တို့သည် မိမိတို့အချင်းချင်း တစ်ဦးကိုတစ်ဦး ငြူစူစောင်းမြောင်း ကဲ့ရဲ့ပြစ်တင်ခြင်းလည်း မပြုကြကုန်လင့်။ ထိုမှတပါး အသင်တို့သည် မိမိတို့အချင်းချင်း တစ်ဦးကိုတစ်ဦး *သရော်သမှုပြုကြသော အမည်နာမများဖြင့်လည်း မှည့်ခေါ်ခြင်း မပြုကုန်လင့်။* ① 'အီမာန်' သက်ဝင်ယုံကြည်ပြီးနောက် ပြစ်မှုတည်းဟူသော အမည်နာမသည် လွန်စွာဆိုးရွားလှ၏။ သို့ပါလျက် မည်သူမဆို ဝန်ချတောင်းပန်ခြင်း မပြုခဲ့သော် ယင်းကဲ့သို့ သူတို့သည်သာလျှင် မတရားသောသူများ ဖြစ်ကြပေသတည်း။

---

① __သူတပါးအား အထင်မသေးရာ။__

များသောအားဖြင့် လူနှစ်ယောက် သို့မဟုတ် အဖွဲ့နှစ်ဖွဲ့၊ သို့မဟုတ် အုပ်စုနှစ်ခုတွင် သဘောကွဲလွဲမှုဖြစ်ပေါ်သည့်အခါ တစ်ဦးနှင့်တစ်ဦး၊ တစ်ဖွဲ့နှင့် တစ်ဖွဲ့၊ တစ်အုပ်စုနှင့် တစ်အုပ်စု အချင်းချင်း အထင်အမြင်သေးကာ ပြက်ချော် ပြောင်လှောင်လေ့ရှိကြသည်။ သရော်လေ့ရှိကြသည်။ ငြူစူ စောင်းမြောင်းလေ့ရှိကြသည်။ ကဲ့ရဲ့ပြစ်တင် ရှုတ်ချ ပြောဆိုလေ့ရှိကြသည်။ မကောင်းသော မဖွယ်ရာသော ဘွဲ့နာမည်များဖြင့် ခေါ်ဝေါ်သုံးနှုန်းလေ့ရှိကြသည်။

သို့ရာတွင် သိထားအပ်သည်မှာ မိမိကိုယ်မိမိ ခြောက်ပစ်ကင်း သဲလဲစင်ဟု ထင်မှတ်ကာ သူတစ်ပါးအား ကဲ့ရဲ့ပြစ်တင်နေသူသည် တွင်း၊ ပြင် အားလုံး သိတော်မူသော အလ္လာဟ်အရှင်မြတ်ထံတော်၌ မိမိသာလျှင် ကဲ့ရဲ့ပြစ်တင်ဖွယ်ရာ ဖြစ်နေတတ်ပေသည်။ 

يَاَيُّهَا الَّذِيْنَ اٰمَنُوا اجْتَنِبُوْا كَثِيْرًا مِّنَ الظَّنِّ اِنَّ بَعْضَ الظَّنِّ اِثْمٌ وَّلَا تَجَسَّسُوْا وَلَا يَغْتَبْ بَّعْضُكُمْ بَعْضًا اَيُحِبُّ اَحَدُكُمْ اَنْ يَّاْكُلَ لَحْمَ اَخِيْهِ مَيْتًا

၁၂။ အိုး–'မုအ်မင်န်' သက်ဝင်ယုံကြည်သူ အပေါင်းတို့၊ အသင်တို့သည် များစွာသော ထင်မြင်ယူဆချက်များမှ ကြဉ်ရှောင်ကြလေကုန်။ စင်စစ်ကေန် အချို့သောထင်မြင်ယူဆချက်များမှာ အပြစ်ပင်ဖြစ်ပေသည်။ ၎င်းပြင် အသင်တို့သည် (သူတစ်ပါးတို့၏ ချွတ်ယွင်းမှုများကို) ထောက်လှမ်းစူးစမ်းခြင်း မပြုကြကုန်လင့်။ ထို့ပြင် အသင်တို့အနက် တစ်ဦးသည်တစ်ဦး၏ နောက်ကွယ်၌ *အတင်းပြောဆိုခြင်းကို မပြုရ။* [၁]

➤➤ ဥပမာ– အလ္လာဟ်အရှင်မြတ်ထံတော်၌ ကဲ့ရဲ့ ပြစ်တင်သူထက် ကဲ့ရဲ့ပြစ်တင်ခြင်း ခံရသူက ပို၍ကောင်းနေတတ်ပေသည်။ သို့ဖြစ်လျှင် သူတစ်ပါးအား ကဲ့ရဲ့ပြစ်တင်သူသည်သာလျှင် အရှက်တကွဲ အကျိုးနည်းဖြစ်ပေမည်။

တစ်ခါတစ်ရံ မိမိကိုယ်တိုင်က လက်ခံနှစ်ခြိုက်ခဲ့သော အချက်ကို အချင်းချင်း သဘောကွဲလွဲပြီး နောက်ပိုင်းတွင် ယင်းအချက်ကိုပင် တစ်ဖက်သားက ပြောဆိုလာသည့်အခါ မလိုမုန်းတီးမှု၊ ဇွတ်တရွတ်ပြုလိုမှု၊ သူဖြူလျှင် ငါမည်းမည်ဟူသော မတရား ဆန့်ကျင်လိုမှုများကြောင့် မျက်စိမှိတ်၍ ဆန့်ကျင်တတ်ကြပေသည်။ သူတစ်ပါး၏ သေးငယ်သော အပြစ်ကို မြင်တတ်ကြသည်။ မိမိ၌ရှိသော အပြစ်ကြီးများကိုမူ မမြင်တတ်ကြပေ။ ဤသို့ဖြင့် အချင်းချင်း တစ်ဦးနှင့်တစ်ဦး ပို၍ပို၍ ကင်းကွာလာတတ်ကြသည်။ ပို၍ပို၍ မုန်းတီးလာတတ်ကြသည်။ အမုန်းလွန်လာသည့်အခါ ပြန်လည်ဈေးစပ်မှု၊ သင့်မြတ်မှု လမ်းစသည်ပင် ပျောက်ခြင်းခြင်းမလှ ပျောက်ကွယ်သွားပြီး တစ်ဦးနှင့်တစ်ဦး တစ်ဖွဲ့နှင့် တစ်ဖွဲ့ တစ်အုပ်စုနှင့် တစ်အုပ်စု အသက်ထက်ဆုံး မုန်းသွားတတ်ကြပေသည်။

ဤအာယတ်တော်တွင် အလ္လာဟ်အရှင်မြတ်သည် ယင်းသို့ မဖြစ်စေရန် အလို့ငှာ – သူတစ်ပါးအား အထင်မသေးရ၊ ကဲ့ရဲ့ပြစ်တင်ခြင်း မပြုရ၊သူတစ်ပါး၏ အပြစ်ကိုမရှာရ၊သူတစ်ပါးအားမဖွယ်ရာသော အမည်များနှင့် မခေါ်ရဟူ၍ ပိတ်ပင်တားမြစ်ထားတော်မူခြင်းဖြစ်သည်။

အကယ်၍ ယခုခေတ်မွတ်စ်လင်မ်များသည် ဤကဏ္ဍလာ ဒေသနာတော်များကိုပင် လက်တွေ့လိုက်နာကျင့်သုံးကြပါက ယနေ့ ၎င်းတို့၌ စွဲကပ်နေသော ရောဂါကြီးငယ်များသည် ပျောက်ကင်းသွားနိုင်ပေသည်။

'လူတစ်ယောက်သည် မိမိ၌ရှိသော အပြစ်များကို သတိပြုမိပါမူ သူတစ်ပါးအား ကဲ့ရဲ့ပြစ်တင်ရန် နှုတ်ပင် ဖွင့်ဟဝံ့မည် မဟုတ်ပေ'။ ကြည့်–မာရိဒီ။

(၁) များသောအားဖြင့် အချင်းချင်း သဘောကွဲလွဲမှုများ များပြားပြီး ပြင်းထန်လာသောအခါ၊ အုပ်စုတစ်ခုသည် အခြားအုပ်စုတစ်ခုနှင့်ပတ်သက်၍ ကောင်းသော အတွေးအထင်များကို မတွေးမထင်တော့ပေ။ မကောင်းသော အတွေးအထင်များကိုသာ တွေးထင်တတ်တော့၏။

မိမိနှင့်ဆန့်ကျင်ဘက်အုပ်စုမှ ပြောဆိုသည့်စကားရပ်တစ်ခုတွင် ကောင်းမြတ်သည့် အနက်သဘောကို ဆောင်သည့် ရှုထောင့် အမြောက်အမြား ရှိနေသော်လည်း ယင်းသည့် ရှုထောင့်များကို မမြင်နိုင်တော့ဘဲ၊ ➤➤

فَكَرِهْتُمُوهُ ۚ وَاتَّقُوا اللَّهَ ۚ إِنَّ اللَّهَ تَوَّابٌ رَّحِيمٌ ⑫

အသင်တို့အနက် တစ်ဦးတစ်ယောက်သည် မိမိညီအစ်ကို၏ အသေသားကို စားသုံးရန် နှစ်သက်ပါမည်လော။ စင်စစ် အသင်တို့သည် ထို(*အသေသားစားခြင်း*)ကို *စက်ဆုပ်ကြမည်သာ။* [၁] ထို့ပြင်မှတပါး အသင်တို့သည် အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ရိုသေကြလေကုန်။ မလွဲဧကန် အလ္လာဟ်အရှင်မြတ်သည် ဝန်ချတောင်းပန်ခြင်းကို အလွန်တရာ လက်ခံတော်မူသောအရှင်၊ အလွန်တရာ သနားကြင်နာတော်မူသောအရှင်၊ ဖြစ်တော်မူပေသတည်း၊

---

➤➤ မကောင်းသည့် ရှုထောင့်တစ်ခုကိုသာ မြင်တတ်တော့၏။ ထိုသည့် မကောင်းသည့် သာမန်ရှုထောင့်ကိုသာ ပုံကြီးချဲ့ကာ၊ အမှန်တကယ် ပြုလုပ်ကာ တစ်ဘက်အုပ်စုအား ယိုးမယ်ဖွဲ့ကာ အမျိုးမျိုး သွားပုပ်လေလွင့်စွပ်စွဲပြောဆိုလေတော့၏။

ဆန့်ကျင်ဘက်အုပ်စုနှင့်ပတ်သက်၍ စကားတစ်ခုရရှိလိုက်လျှင် ပထမသော် ထိုစကားကို မကောင်းသော အနက်ပေးရုံမျှမက ဆန့်ကျင်ဘက်အုပ်စု၏ အတွင်းရေးများကိုပင် ပင်ပန်းကြီးစွာဖြင့် နှိုက်နှိုက်ချွတ်ချွတ် စူးစမ်းရှာဖွေသေး၏။ သို့စူးစမ်းရှာဖွေပြီးနောက် မိမိတို့ရရှိလာသည့် တစ်ဖက်သား၏ အတွင်းရေးကို (မှားသည် မှန်သည် အပထား) အရောင်အမျိုးမျိုးဆိုးပြီး၊ မိမိတို့၏ အသိုင်းအဝန်းတွင် မြိန်မြိန်ရှက်ရှက် ပြော၏။ နောက်ကွယ်ရာတွင် အတင်းဆို၏။ ဤသို့ပြုလုပ်ခြင်းဖြင့် သဘောကွဲလွဲမှုသည် ပိုမို၍ ကြီးထွားလာတတ်ပေသည်။ ဤသည် အလွန်ယုတ်မာသော အကျင့်အကြံပင်။ ဤအာယတ် တော်တွင် ဤသည့် ယုတ်မာသော အကျင့်အကြံကို မကျင့်ကြံမိရန် လေးနက်စွာ ပိတ်ပင်တားမြစ်ထားတော်မူသည်။

မွတ်စ်လင်မ်များသည် ဤအာယတ်တော်လာ ဒေသနာတော်များအရ အချင်းချင်း မကောင်းသော အတွေးအထင် မတွေးထင်ကြလျှင် သူတစ်ပါး၏ အတွင်းရေးများကို မရှာဖွေကြလျှင်၊ နောက်ကွယ်ရာတွင် အတင်းမဆိုကြလျှင် ယနေ့ဖြစ်ပေါ်နေသည့် စိတ်မချမ်းမြေ့ဖွယ်ရာ ကွဲလွဲမှု၊ မလိုမုန်းတီးမှု၊ အာဃာတထားမှု၊ ရန်ငြိုးထားမှု၊ ဆန့်ကျင်မှု၊ ခိုက်ရန် ဖြစ်ပွားမှုများသည် ပျောက်ကွယ်သွားနိုင်ပေသည်။

**(၁) မိမိ၏ ညီနောင်၏ အသေသား စားရက်ပါသလား၊**

မိမိညီနောင်တစ်ဦးအား ၎င်း၏နောက်ကွယ်ရာတွင် အတင်းဆိုခြင်းသည် သေနေသော မိမိညီနောင်၏ အသေသားကို စားမျိုခြင်းပင်။ ဤသည်ကို အသူနှစ်ခြိုက်အံ့နည်း။ အတင်းဆိုခြင်းသည် ဤသည်ထက်ပင် ဆိုးရွားရွံ့မုန်းဖွယ်ရာတည်း။ တစ်ဦးတစ်ယောက်နှင့် ပတ်သက်၍ ၎င်း၏ နောက်ကွယ်ရာတွင် ဖြစ်ရပ်မှန်အတိုင်း ပြောဆိုခြင်းသည် ဖြစ်ရပ်မှန်အတိုင်း ပြောဆိုခြင်းဖြစ်သည့်အတွက် အတင်းဆိုရာမရောက်ဟူ၍ အချို့က ထင်မှတ်ကြသည်။ ဤသည် မမှန်၊ အဘယ်ကြောင့်ဆိုသော် တမန်တော်မြတ်က အတင်းဆိုခြင်းနှင့်စပ်လျဉ်း၍ (ذكرك أخاك بما يكره) 'အသင်၏ညီနောင် မနှစ်ခြိုက်သောအရာကို ၎င်း၏နောက်ကွယ်ရာတွင် အသင် ပြောဆိုခြင်းသည်လည်း အတင်း ပြောဆိုခြင်းပင်ဖြစ်သည်' ဟု မိန့်ကြားတော်မူခဲ့ပေသည်။ ➤➤

يَٰٓأَيُّهَا ٱلنَّاسُ إِنَّا خَلَقْنَٰكُم مِّن ذَكَرٍ وَأُنثَىٰ وَجَعَلْنَٰكُمْ شُعُوبًا وَقَبَآئِلَ لِتَعَارَفُوٓا۟ ۚ إِنَّ أَكْرَمَكُمْ عِندَ ٱللَّهِ أَتْقَىٰكُمْ ۚ إِنَّ ٱللَّهَ عَلِيمٌ خَبِيرٌ ﴿١٣﴾

၁၃။ အို-လူခပ်သိမ်းတို့။ စကန်မလွဲ ငါအရှင်မြတ်သည် အသင်တို့အား ယောကျ်ားတစ်ယောက်၊ မိန်းမတစ်ယောက်မှ (စတင်)ဖန်ဆင်းတော်မူခဲ့၏။ [၁] ထို့ပြင် ငါအရှင်မြတ်သည် အသင်တို့အချင်းချင်း တစ်ဦးကို တစ်ဦး ခွဲခြားသိမြင်မှတ်မိကြအံ့သောငှာ လူမျိုးစု အသီးသီး၊ မျိုးနွယ်အသွယ်သွယ်ပြုလုပ်တော်မူခဲ့၏။ စကန်စင်စစ် အသင်တို့အနက် (အလ္လာဟ်အရှင်မြတ်အား) *အကြောက်ရွံ့ဆုံး၊ အပြစ်များမှ အများဆုံး ကြဉ်ရှောင်သောသူသည်သာလျှင် အလ္လာဟ်အရှင်မြတ် အထံတော်၌ အမြင့်မြတ်ဆုံးသောသူဖြစ်၏။* [၂] စင်စစ် တစ်မူကား အလ္လာဟ်အရှင်မြတ်သည် အသိတော်မူဆုံး၊ အကြားတော်မူဆုံးအရှင် ဖြစ်တော်မူပေသတည်း။

---

➤➤ တမန်တော်မြတ်က ( الغيبة أشد من الزنا ) 'ဃီဗတ်' အတင်းဆိုခြင်းသည် 'ဇိနာ' သူတစ်ပါး သားမယားအား ပြစ်မှားခြင်းထက်ပင် ပိုမို၍ ဆိုးရွားသည်ဟု မိန့်ကြားတော်မူခဲ့သည်။ သို့ဖြစ်ရာ ကျွန်ုပ်တို့သည် မည်သူ့အားမျှ မည်သည့်အခါမျှ အတင်းအလျှင်း မဆိုကြရာ။

① **တစ်မိ တစ်ဘတည်းမှ ဆင်းသက်လာသော ညီနှင့်အစ်ကို၊ မောင်နှင့် နှမများသာ။**

များသောအားဖြင့် သူတစ်ပါးအား အထင်သေးခြင်း၊ အပြစ်ရှာခြင်း၊ ကဲ့ရဲ့ပြစ်တင်ခြင်းများ၏ အကြောင်းရင်းမှာ မိမိကိုယ်ကို မိမိ၊ အထင်ကြီးခြင်းပင်ဖြစ်သည်။ လူသားသည် များသောအားဖြင့် မိမိကိုယ်ကို အထင်ကြီးသည်။ သူတစ်ပါးကို အထင်သေးသည်။ ထိုသို့သော အမြင်မှားနေသော လူသားများအား ဤ အာယတ်တော်တွင် ရည်ညွှန်းမိန့်ကြား ထားတော်မူသည်မှာ - လူတစ်ဦး၏ ကြီးခြင်း၊ ငယ်ခြင်း၊ ဂုဏ်ရှိခြင်း၊ ဂုဏ်မဲ့ခြင်းများသည် မျိုးရိုးဇာတိနှင့်မဆိုင်။

မည်သူမဆို အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ရိုသေခန့်ညား၍ ထိုအရှင်မြတ်၏ ဒေသနာတော်များ နှင့်အညီ အကျင့်စာရိတ္တ ကောင်းမွန်သည်နှင့်အမျှ ယဉ်ကျေး သိမ်မွေ့သည်နှင့်အမျှ အလ္လာဟ်အရှင်မြတ် ထံတော်၌ ကောင်းသည်၊ မွန်ရည်သည် ဂုဏ်ရှိသည်သာ ဖြစ်ပေသည်။

မျိုးရိုးဇာတိကား လူတစ်ဦးတစ်ယောက်၏ ကောင်းမှု၊ မကောင်းမှု၊ ဂုဏ်ရှိမှု၊ ဂုဏ်မရှိမှုများကို ခွဲခြားသိစေနိုင်သည့် မှတ်ကျောက်မဟုတ်ပေ။ အဘယ်ကြောင့်ဆိုသော် လူသားအားလုံးတို့သည် တစ်မိ၊ တစ်ဖတည်းမှ ဖခင်ကြီး အာဒမ်နှင့် မိခင်ကြီး ဟောင်ဝါမှ ဆင်းသက်ပေါက်ဖွားလာခဲ့ကြသော ညီနှင့်အစ်ကို၊ မောင်နှင့်နှမများသာဖြစ်ကြပေသည်။

② ဆိုလိုသည်ကား - 'တာက်ဝါ' သည် အမှန်စင်စစ် စိတ်နှလုံးနှင့်သာ ဆိုင်သည်။ စိတ်နှလုံးတွင်းကိစ္စကို အလ္လာဟ်အရှင်မြတ်သာလျှင် သိတော်မူသည်။ သို့ဖြစ်ရာ မည်သူမည်ဝါသည် မုတ္တကီ ဖြစ်သည်။ မဖြစ်သည်ကို အပေါ်ရုံကြည့်ဆုံးဖြတ်ရန် မဖြစ်နိုင်ပေ။ ➤➤

قَالَتِ الْأَعْرَابُ اٰمَنَّا ۗ قُلْ لَّمْ تُؤْمِنُوْا وَلٰكِنْ قُوْلُوْٓا اَسْلَمْنَا وَلَمَّا يَدْخُلِ الْاِيْمَانُ فِيْ قُلُوْبِكُمْ ۗ وَاِنْ تُطِيْعُوا اللّٰهَ وَرَسُوْلَهٗ لَا يَلِتْكُمْ مِّنْ اَعْمَالِكُمْ

၁၄။ ကျေးတောသားအရဗ်တို့က 'ကျွန်ုပ်တို့သည် 'အီမာန်'သက်ဝင်ယုံကြည်ခဲ့ကြပါပြီ' ဟု ပြောဆိုကြကုန်၏။ (အို-နဗီတမန်တော်) အသင်သည် ပြောကြားပါလေ။ (အချင်းတို့) အသင်တို့သည် သက်ဝင်ယုံကြည်ကြသည် မရှိသေးပေ။ သို့ရာတွင် 'ကျွန်ုပ်တို့သည် အမိန့်ကိုနာခံကြပါပြီ' ဟူ၍သာ ပြောဆိုကြလေကုန်။ စင်စစ်တမူကား 'အီမာန်' ယုံကြည်မှုသည် အသင်တို့၏ စိတ်နှလုံးများတွင် မဝင်သေးပေ။ [၁]

---

➢➢ အချို့ပုဂ္ဂိုလ်သည် အမြင်အားဖြင့် မွတ္တကီဟု တွေ့မြင်ရသည်။ သို့ရာတွင် ထိုပုဂ္ဂိုလ်သည် အမှန်တကယ် မွတ္တကီဖြစ်သည်၊ မဖြစ်သည်၊ မည်သို့ရှိသည်၊ နောက်နောင်မည်သို့ရှိမည်များကို အလ္လာဟ်အရှင်မြတ်သည်သာလျှင် အသိဆုံးဖြစ်တော်မူပေသည်။ ထို့ပြင်တစ်ဝ ပုဂ္ဂိုလ်တဦးနှင့် ပတ်သက်၍ ၎င်း၏ ယနေ့လက်ရှိ အခြေအနေကို ကြည့်ပြီး ကောင်းသည် မကောင်းသည်ဟု ဆုံးဖြတ်ရန်လည်း မဖြစ်နိုင်ပေ။

အဘယ်ကြောင့်ဆိုသော် လူတစ်ဦးသည် ယနေ့ကောင်းသော်လည်း သေခါနီးနောက်ဆုံးအချိန် ဆိုးသွားသည်လည်း ရှိသည်။ ထို့အတူ အချို့သည် ယနေ့ဆိုးနေသော်လည်း သေခါနီးတွင် ကောင်းသွားသည်လည်း ရှိသည်။ ဆိုးကောင်း အဆုံးအဖြတ်ပေးရမည့် အဓိက အခြေအနေသည် သေခါနီးနောက်ဆုံး အခြေအနေသာလျှင် ဖြစ်သည်။ (إنما العبرة بالخواتيم) သို့ဖြစ်ရာ လူတိုင်း လူတိုင်းသည် သေခါနီး နောက်ဆုံးအချိန်တွင် အီမာန်နှင့် တာကဝါအပေါ်၌ ရပ်တည်နေနိုင်ရန် ကြိုးစားရပေမည်။

အလ္လာဟ်အရှင်မြတ်သည် အားလုံးသိတော်မူသည်၊ အားလုံးကြားတော်မူသည်။ မည်သူမည်ဝါ၌ 'တာကဝါ' ရှိသည်။ မရှိသည်ကို အလ္လာဟ်အရှင်မြတ်သာလျှင် သိတော်မူသည်။ ထိုအရှင်မြတ်မှတစ်ပါး အခြားမည်သူမျှ မသိနိုင်ပေ။ သို့ဖြစ်ရာ မိမိ၌ 'တာကဝါ' ရှိသည်ကို အကြောင်းပြု၍ အထင်မကြီးရာ။

**(၁) အီမာန်နှင့် အစ္စလာမ်။**

ဤအာယတ်တော်တွင် ပါရှိသော အရဗ်တောကျေးသားများ ဟူသည် ဗနုအစဒ်စသည့် အရဗ်တောကျေးသားများကို ဆိုလိုသည်။ ကြည့်-ထာနဝီ။

တစ်ရက် အဆိုပါ အရဗ်တောကျေးသားများသည် တမန်တော်မြတ်ထံ လာရောက်ပြီးလျှင် 'ကျွန်တော်တို့သည် အီမာန် သက်ဝင်ယုံကြည်ကြပါပြီ'ဟု ပြောဆိုခဲ့ကြ၏။ အမှန်မှာ ၎င်းတို့သည် စိတ်နှလုံးသားအတွင်းမှ ကြည်ဖြူစွာ အီမာန်သက်ဝင်ယုံကြည်ခဲ့ကြသည် မဟုတ်သေးပေ။ အပေါ်ယံ နှုတ်လျှာမှ အီမာန်သက်ဝင်ယုံကြည်ပါပြီဟု ပြောဆိုခြင်းမျှသာ ဖြစ်ခဲ့ပေသည်။

ထို့အတွက် အလ္လာဟ်အရှင်မြတ်က တမန်တော်မြတ်အား အဆိုပါ အရဗ်တောကျေးသားများကို 'အသင်တို့သည် အီမာန် သက်ဝင်ယုံကြည်ကြသည် မဟုတ်သေးပေ။ ကျွန်တော်တို့သည် (ဆန့်ကျင်မှုကို စွန့်လွှတ်ပြီး) အမိန့်တော် နာခံကြပါပြီ' ဟူ၍သာ ပြောဆိုကြကုန်။ အဘယ်ကြောင့်ဆိုသော် အီမာန်သက်ဝင်ယုံကြည်မှုသည် ယခုထက်တိုင် အသင်တို့၏ နှလုံးသားများအတွင်းသို့ မသက်ရောက်သေးပေ' ဟူ၍ ဖြစ်ရပ်မှန်ကို ထုတ်ဖော် ပြောကြားစေတော်မူခဲ့ပေသည်။



شَيْـًٔا ۚ إِنَّ ٱللَّهَ غَفُورٌ رَّحِيمٌ ﴿١٤﴾

သို့ရာတွင် အကယ်၍ အသင်တို့သည် အလ္လာဟ်အရှင်မြတ်၏အမိန့်တော်များကိုလည်းကောင်း၊ ထိုအရှင်မြတ်၏ ရစူလ်တမန်တော်မြတ်၏ အမိန့်တော်များကိုလည်းကောင်း၊ (အကယ်စင်စစ်) လိုက်နာကြလျှင် ထိုအရှင်မြတ်သည် အသင်တို့၏ ကျင့်မှုဆောင်ရွက်ချက်တို့အနက်မှ မည်သည့် တစုံတရာကိုမျှပင် အသင်တို့၌ လျော့နည်းစေတော်မူမည် မဟုတ်ပေ။ စင်စစ်ကေန် အလ္လာဟ်အရှင်မြတ်သည် လွန်စွာခွင့်လွှတ်တော်မူသောအရှင်၊ လွန်စွာကရုဏာပြုတော်မူသောအရှင် ဖြစ်တော်မူ၏။

إِنَّمَا ٱلْمُؤْمِنُونَ ٱلَّذِينَ ءَامَنُوا۟
بِٱللَّهِ وَرَسُولِهِۦ ثُمَّ لَمْ يَرْتَابُوا۟
وَجَٰهَدُوا۟ بِأَمْوَٰلِهِمْ
وَأَنفُسِهِمْ فِى سَبِيلِ ٱللَّهِ ۚ
أُو۟لَٰٓئِكَ هُمُ ٱلصَّٰدِقُونَ ﴿١٥﴾

၁၅။ အကြင်သူတို့သည်သာလျှင် (ပြည့်ဝစုံလင်သော) 'မုအ်မင်န်' သက်ဝင်ယုံကြည်သူများ ဖြစ်ကြကုန်၏။ ထိုသူတို့သည် အလ္လာဟ်အရှင်မြတ်အားလည်းကောင်း၊ ထိုအရှင်မြတ်၏ ရစူလ်တမန်တော်မြတ်အားလည်းကောင်း၊ သက်ဝင်ယုံကြည်ခဲ့ကြသည်။ ပြီးနောက် ၎င်းတို့သည် သံသယ ဖြစ်ခဲ့ကြသည် မရှိချေ။ ထိုမှတပါး ထိုသူတို့သည် မိမိတို့၏ ပစ္စည်းဥစ္စာများဖြင့်လည်းကောင်း၊ မိမိတို့၏ အသက်ဇီဝိန်များဖြင့်လည်းကောင်း၊ အလ္လာဟ်အရှင်မြတ်၏ လမ်းတော်၌ သက်စွန့်ကြိုးပမ်း ဆောင်ရွက်ခဲ့ကြကုန်၏။ ထိုသူတို့သည်သာလျှင် *သစ္စာဝါဒီများ ဖြစ်ကြကုန်၏။* ၁

---

➤➤ ဆိုလိုသည်ကား အမှန်တကယ် စိတ်နှလုံးသားအတွင်းမှ နှစ်နှစ်ကာကာ ကြည်ဖြူစွာ အီမာန် သက်ဝင်ယုံကြည်မှု မရှိသေးပါဘဲလျက် ကျွန်တော်တို့သည် 'အီမာန်' သက်ဝင်ယုံကြည်ကြပါပြီ။ 'မုအ်မင်န်' များဖြစ်ကြပါပြီဟူ၍ကား၊ လိမ်လည်ကာ ဂုဏ်ဖော် မပြောကြားရာ။ ကြည့်-ထာနဝီ။

① **စစ်မှန်သော မုအ်မင်န်တို့၏ ဂုဏ်ရည်များ။**

စစ်မှန်သော မုအ်မင်န်များမှာ-

(၁) အလ္လာဟ်အရှင်မြတ်အားလည်းကောင်း၊ ထိုအရှင်မြတ်၏ တမန်တော်မြတ်အားလည်းကောင်း ယုံကြည်ကြသည်။ ယင်းသည့် ယုံကြည်ချက်အပေါ်၌ပင် အသက်ထက်ဆုံး တည့်မတ်စွာ ရပ်တည်နေကြပေသည်။➤➤

قُلْ أَتُعَلِّمُونَ اللَّهَ بِدِينِكُمْ وَاللَّهُ يَعْلَمُ مَا فِي السَّمَٰوَٰتِ وَمَا فِي الْأَرْضِ ۚ وَاللَّهُ بِكُلِّ شَيْءٍ عَلِيمٌ ﴿١٦﴾

၁၆။ (အို-နဗီတမန်တော်)။ အသင်သည် ပြောကြားပါလေ။ (အချင်းတို့၊) အသင်တို့သည် မိမိတို့၏ 'ဒီန်'သာသနာကို အလ္လာဟ်အရှင်မြတ်အား အသိပေးကြလေသလော။ စင်စစ်မှာမူကား အလ္လာဟ်အရှင်မြတ်သည် မိုးကောင်းကင်များ၌ရှိသမျှတို့ကိုလည်းကောင်း၊ ပထဝီမြေများ၌ ရှိသမျှတို့ကိုလည်းကောင်း၊ ကောင်းစွာ သိရှိတော်မူ၏။ ထိုမှတပါး အလ္လာဟ်အရှင်မြတ်သည် အရာခပ်သိမ်းတို့ကို အကြွင်းမဲ့သိရှိတော်မူသောအရှင်မြတ်ပင် ဖြစ်တော်မူ၏။

يَمُنُّونَ عَلَيْكَ أَنْ أَسْلَمُوا ۖ قُلْ لَا تَمُنُّوا عَلَيَّ إِسْلَامَكُمْ ۖ بَلِ اللَّهُ يَمُنُّ عَلَيْكُمْ أَنْ هَدَاكُمْ لِلْإِيمَانِ إِنْ كُنْتُمْ صَادِقِينَ ﴿١٧﴾

၁၇။ (အို-နဗီတမန်တော်)၊ ၎င်းတို့သည် (အမိန့်ကို) နာခံခဲ့ကြကြောင်း အသင့်ရှေ့ဝယ် ဂုဏ်ဖော်၍ နေကြကုန်၏။ အသင်သည် ပြောကြားပါလေ။ (အချင်းတို့၊) အသင်တို့သည် ငါ၏ရှေ့ဝယ် မိမိတို့ အမိန့်နာခံမှုကို ဂုဏ်ဖော်ခြင်း မပြုကြကုန်လင့်။ စင်စစ်မှာမူကား အကယ်၍ အသင်တို့သည် သစ္စာဝါဒီများ ဖြစ်ကြလျှင် အလ္လာဟ်အရှင်မြတ်သည် အသင်တို့အား အီမာန် သက်ဝင်ယုံကြည်နိုင်ရန် တရားလမ်းကို ပြသတော်မူခဲ့သောကြောင့် *ထိုအရှင်မြတ်ကသာလျှင် အသင်တို့အပေါ် ကျေးဇူးပြုထားတော်မူခြင်း ဖြစ်ပေသည်။* [၁]

---

>> (၂) အနည်းငယ်စိုးစဉ်းမျှ ဒွိဟသံသယမဖြစ်ကြပေ။ စိတ်နှလုံးတွင်းမှ နှစ်နှစ်ကာကာ ကြည်ဖြူစွာ ယုံကြည်ကြပေသည်။ ထို့ပြင်တဝ-

(၃) အလ္လာဟ်အရှင်မြတ်၏လမ်းတော်တွင် မိမိတို့၏ ဥစ္စာပစ္စည်းများကိုလည်းကောင်း၊ အသက် ဇီဝိန်များကိုလည်းကောင်း ရက်ရောစွာ လှူဒါန်းကြပေသည်။ အနည်းငယ် စိုးစဉ်းမျှ တွန့်တိုဆုတ်ဆိုင်းကြသည် မရှိပေ။ ယင်းသို့သော ဂုဏ်ရည်များနှင့်ပြည့်စုံသော သူများသာလျှင် စစ်မှန်သော မုအ်မင်န်များဖြစ်ကြပေသည်။

၁ ယင်းသို့သော အရပ်တောကျေးသားတို့ကို 'အသင်တို့သည် မိမိတို့ အစ္စလာမ်ကို လက်ခံကြသည့်အတွက် ကျွန်ုပ်ရှေ့တွင် ဂုဏ်မဖော်ကြနှင့်၊ အမှန်မှာ အလ္လာဟ်အရှင်မြတ်ကသာ အသင်တို့အား အီမာန် သက်ဝင်ယုံကြည်နိုင်ရန် တရားပြတော်မူ၍ အသင်တို့အပေါ်၌ ကျေးဇူးပြုထားတော်မူခြင်းသာ ဖြစ်သည်'ဟု တမန်တော်မြတ်အား ဖြေကြားစေတော်မူခြင်းဖြစ်သည်။ >>

إِنَّ اللَّهَ يَعْلَمُ غَيْبَ السَّمٰوٰتِ وَالْأَرْضِ ۚ وَاللَّهُ بَصِيرٌ بِمَا تَعْمَلُونَ ﴿١٨﴾

၁၈။ ဧကန်မလွဲ အလ္လာဟ်အရှင်မြတ်သည် မိုး ကောင်းကင်များနှင့်ပထဝီမြေခွဲရှိကုန်သော လျှို့ဝှက် ချက်တို့ကို ကောင်းစွာ သိရှိတော်မူ၏။ ထိုမှတပါး အလ္လာဟ်အရှင်မြတ်သည် အသင်တို့ ကျင့်မူဆောင်ရွက် လျက် ရှိကြသည်တို့ကို ကောင်းစွာ မြင်တော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

➤➤ အမှန်မှာ မည်သူမဆို ကောင်းမှုတစ်ရပ်ကို မိမိ၏လက်ဖြင့် ပြုလုပ်ထားသည်ပင်ဆိုစေ။ သို့ ပြုလုပ်နိုင်ခြင်း အတွက် မိမိကိုယ်ကို မိမိချီးမွမ်းရန်မဟုတ်။ ယင်းသို့ ကောင်းမှု ပြုနိုင်စွမ်း ချီးမြှင့်တော်မူသော အလ္လာဟ်အရှင်မြတ်အားသာ ချီးမွမ်းရမည်သာ။

အချုပ်အားဖြင့်ဆိုသော် ကုရ်အာန်ကျမ်းလာ ဒေသနာတော်များနှင့် အစ္စလာမ်၏ အဆုံးအမများကို လိုက်နာကျင့်သုံးခွင့်ရရှိပါက ဂုဏ်ဖော်ရန်မဟုတ်၊ မိမိတို့အား ယင်းသို့ လိုက်နာကျင့်သုံးနိုင်စွမ်း ချီးမြှင့်တော်မူသော အလ္လာဟ်အရှင်မြတ်အားသာလျှင် ကျေးဇူးတင်ကြရပေမည်။ အစ္စလာမ်ရေးရာများကို ဆောင်ရွက်ရသည့်အတွက် မိမိတို့က ဂုဏ်ဖော်ရန်ဝေးစွ၊ အလ္လာဟ်အရှင်မြတ်က မိမိတို့အား သာသနာရေးရာများကို ဆောင်ရွက်ရန် အသုံးပြုထားတော်မူသည့်အတွက် ထိုအရှင်မြတ်အား ကျေးဇူးတင်ရဦးမည်သာ။

# ကားဖ် ကဏ္ဍ




ဤကဏ္ဍသည် "ကားဖ်" ကဏ္ဍမည်၏။ မက္ကာမြို့တော်၌ ကျရောက်ခဲ့၏။ ဤကဏ္ဍတွင် အာယတ်တော် (၄၅)ပါး၊ ရကူအ် အပိုဒ်(၃)ပိုဒ်၊ အသီးသီးပါရှိ၏။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ

အနန္တ ကရုဏာတော်ရှင်ဖြစ်တော်မူသော၊ အစဉ် သနားကြင်နာ ညှာတာတော်မူသော၊ အလ္လာဟ်အရှင်မြတ်၏ နာမံတော်ဖြင့် အစပြုပါ၏။

قٓ وَالْقُرْاٰنِ الْمَجِيْدِ ۝١

၁။ 'ကားဖ်' [၁] (ငါအရှင်မြတ်သည်) အထူးဂုဏ်ဝိသေသနှင့် ပြည့်စုံသော ကုရ်အာန်ကျမ်းတော်မြတ်ကို သက်သေထူတော်မူ၏။ [၂]

بَلْ عَجِبُوْٓا اَنْ جَآءَهُمْ مُّنْذِرٌ مِّنْهُمْ فَقَالَ الْكٰفِرُوْنَ هٰذَا شَيْءٌ عَجِيْبٌ ۝٢

၂။ စင်စစ်မှာကား ၎င်းတို့သည် မိမိတို့ထံ မိမိတို့အနက်မှပင် သတိပေးနှိုးဆော်သူတစ်ဦး ရောက်ရှိ၍ လာခဲ့သည်ကိုပင် အံ့ဩလျက်ရှိနေကြကုန်၏။ သို့ဖြစ်ပေရာ 'ကာဖိရ်' သွေဖည်ငြင်းပယ်သော သူတို့က ပြောဆိုခဲ့ကြသည်မှာ ဤသည်လွန်စွာ အံ့ဖွယ် အကြောင်းပင် ဖြစ်သည်။

---

(၁) 'ကားဖ်' ဟူသော အက္ခရာသည် ကုရ်အာန်ကျမ်းမြတ်၏ အချို့ကဏ္ဍများ၏ အစတွင် ပါရှိသည့် အနက် အဓိပ္ပာယ် လျှို့ဝှက်ထားသည့် သင်္ကေတအက္ခရာများနည်းတူ ဤကဏ္ဍ၏အစတွင် ပါရှိသော သင်္ကေတ အက္ခရာပင်ဖြစ်သည်။ 'ကားဖ်' ဟူသော သင်္ကေတအက္ခရာသည် ကုရ်အာန်ကျမ်းမြတ် တစ်စောင်လုံးတွင် ဤတစ်နေရာတည်း၌သာ လာရှိပေသည်။

အမှန်မှာ ဤသင်္ကေတ အက္ခရာစုများ၏ အနက်ကို အလ္လာဟ်အရှင်မြတ်သာလျှင် သိတော်မူပေသည်၊ ကြည့်- ထာနဝီ၊ အိဗ်နူကဆီရ်။

(၂) **ဂုဏ်ထူးဝိသေသနှင့် ပြည့်စုံသော ကုရ်အာန်။**

ကုရ်အာန်ကျမ်းမြတ်၏ ဂုဏ်ထူးဝိသေသကား ထင်ရှားလှပေသည်။ အထူးထုတ်ဖော်ရေးသားနေရန်ပင် မလိုပေ။ ကုရ်အာန်ကျမ်းမြတ်သည် ကောင်းကင်ကျ ကျမ်းဂန်အပေါင်းတွင် နောက်ဆုံး ကျရောက်သောကျမ်း ဖြစ်သည်။ အတိတ်ခေတ် ကျမ်းဂန်အပေါင်းတွင် ပါရှိခဲ့သော အနှစ်သာရအားလုံးနှင့် ပြည့်စုံသည်သာမက၊ ကမ္ဘာတသက် တည်ရှိမည့် ကျမ်းကြီးတဆူလည်း ဖြစ်ပေသည်။

ကုရ်အာန်ကျမ်းမြတ်သည် အဘက်ဘက်မှ ပြည့်စုံသည်။ ချို့တဲ့မှု၊ ချွတ်ယွင်းမှုဟူ၍ အလျင်းမရှိ။ လက်ညှိုးညွှန်ပြဖွယ်ရာ အပြစ်ဟူ၍ တစ်ကွက်မျှမရှိ။ ကုရ်အာန်ကျမ်းမြတ်၏ ဂုဏ်ထူးဝိသေသများနှင့် ➤➤

ءَاِذَا مِتۡنَا وَكُنَّا تُرَابًا ۚ ذٰلِكَ رَجۡعٌۢ بَعِيۡدٌ ③

၃။ ကျွန်ုပ်တို့ သေဆုံးခဲ့ကြပြီးနောက် မြေကြီး ဖြစ်သွားခဲ့ကြသောအခါ (ရှင်ပြန်ထကြရဦးမည်လော၊) ထိုသည်ကား အလွန်တရာဝေးလံစွာသော ပြန်လည်ခြင်းပင်။ [ထိုသို့ ပြန်လည်ရှင်ထခြင်းသည် (အသိဉာဏ်နှင့်) အလွန်ဝေးလံပေသည်။]

قَدۡ عَلِمۡنَا مَا تَنۡقُصُ الۡاَرۡضُ مِنۡهُمۡ ۚ وَعِنۡدَنَا كِتٰبٌ حَفِيۡظٌ ④

၄။ မြေကြီးက ၎င်းတို့(၏ ကိုယ်ခန္ဓာများ)အနက်မှ (စား၍) လျော့နည်းစေမည့် အစိတ်အပိုင်းကို ဧကန်မလွဲ ငါအရှင်မြတ်သည် သိရှိတော်မူ၏။ စင်စစ်မှာကား ငါအရှင်မြတ်အထံတော်တွင် ထိန်းသိမ်း စောင့်ရှောက်ထားသောမှတ်တမ်းစာအုပ်သည်လည်းရှိနေပေသည်။ [၁]

بَلۡ كَذَّبُوۡا بِالۡحَقِّ لَمَّا جَآءَهُمۡ فَهُمۡ فِىۡۤ اَمۡرٍ مَّرِيۡجٍ ⑤

၅။ စင်စစ်မှာကား ထိုသူတို့သည် ၎င်းတို့ထံ အမှန်တရား ရောက်ရှိ၍ လာခဲ့သောအခါ ယင်းအမှန်တရားကိုပင် မဟုတ်မမှန်ဟူ၍ စွပ်စွဲငြင်းပယ်ခဲ့ကြကုန်၏။ စင်စစ်မှာကား ၎င်းတို့သည် မတည်ငြိမ်သော အခြေအနေ၌ပင် ရှိနေကြကုန်သတည်း။

➤➤ စပ်လျဉ်း၍ အထူးသက်သေထူရန် မလို။ (သူရိယ)နေ၏ ထွန်းလင်းတောက်ပမှုနှင့်စပ်လျဉ်း၍ နေကိုယ်တိုင် သက်သေဖြစ်သကဲ့သို့၊ ကုရ်အာန်၏ ဂုဏ်ထူးဝိသေသနှင့်စပ်လျဉ်း၍ ကုရ်အာန်သည်ပင် မိမိကိုယ်တိုင် သက်သေ ဖြစ်ပေသည်။

သို့ပါသော်လည်း ကာဖိရ်များသည် ကုရ်အာန်ကို လက်မခံကြပေ။ ကုရ်အာန်ကို ၎င်းတို့ လက်မခံခြင်းမှာ ၎င်းတို့၌ ကုရ်အာန်နှင့်ဆန့်ကျင်၍ တစ်စုံတစ်ရာ အထောက်အထားရှိ၍ မဟုတ်။ ၎င်းတို့၏ မိုက်မဲမှု၊ အစွဲအလမ်းကြီးမှု၊ ဇွတ်တရွတ်ပြုမှု၊ မောက်မာမှုများကြောင့်သာဖြစ်ပေသည်။ ကြည့်-အွတ်ဆ်မာနီ။

(၁) ဆိုလိုသည်ကား လူသားများ သေပြီးနောက် ၎င်းတို့၏ ကိုယ်ခန္ဓာများသည် အားလုံးမြေဖြစ်သွားသည်မဟုတ်၊ (ရူဟ်) အသက်ဇီဝိန်သည် ကြွင်းကျန်လျက်ရှိပေသည်။ ကိုယ်ခန္ဓာ၏ အစိတ်အပိုင်းများသည် မြေတွင် ရောယှက်၍ အသို့ပင်ပျံ့လွင့်သွားလင့်ကစား ပျံ့လွင့်သွားသော ယင်းအစိတ်အပိုင်း အားလုံးတို့သည် အလ္လာဟ် အရှင်မြတ်၏ အသိတော်အတွင်း၌ပင် ရှိနေပေသည်။

အလ္လာဟ်အရှင်မြတ်သည် အရေးကိစ္စအဝဝနှင့်စပ်လျဉ်း၍ အသေးစိတ် အကြွင်းမဲ့ သိတော်မူသည်သာမက၊ အရာရာနှင့် စပ်လျဉ်း၍ အသေးစိတ် အတိအကျ ရေးမှတ်ထားတော်မူသည့် 'လောင်ဟ်မဟ်ဖူဇ်' ခေါ် မှတ်တမ်းတော်သည်လည်း ထိုအရှင်မြတ်၏ ရှေ့တော်၌ အသင့်ရှိနေပေသည်။ သို့ဖြစ်ရာ ထိုအရှင်မြတ်အဖို့ ပျံ့လွင့်နေသော အစိတ်အပိုင်းများကို စုပေါင်း၍ ပြန်လည်အသက်သွင်းပြီး ရှင်ထစေတော် မူခြင်းမှာ အသို့လျှင် အခက်အခဲ ရှိနိုင်အံ့နည်း။

أَفَلَمْ يَنظُرُوا إِلَى السَّمَاءِ فَوْقَهُمْ كَيْفَ بَنَيْنَاهَا وَزَيَّنَّاهَا وَمَا لَهَا مِن فُرُوجٍ ﴿٦﴾

၆။ ၎င်းတို့သည် မိမိတို့၏အထက်၌ မိုးကောင်းကင်ကို မကြည့်မမြင်ခဲ့ကြလေသလော။ ငါအရှင်မြတ်သည် ယင်းမိုးကောင်းကင်ကို မည်သို့ပြုလုပ်ထားတော်မူသနည်း။ ၎င်းပြင် ငါအရှင်မြတ်သည် ထိုမိုးကောင်းကင်ကို မည်သို့လှပစွာ ဆင်ယင်ထားတော်မူသနည်း။ ထိုမှတပါး ယင်းမိုးကောင်းကင်၌ အဟာ၊ အကွဲ၊ အအက်များဟူ၍လည်း အလျှင်းမရှိပြီတကား။

وَالْأَرْضَ مَدَدْنَاهَا وَأَلْقَيْنَا فِيهَا رَوَاسِيَ وَأَنبَتْنَا فِيهَا مِن كُلِّ زَوْجٍ بَهِيجٍ ﴿٧﴾

၇။ ထိုမှတပါး ငါအရှင်မြတ်သည် ပထဝီမြေကို ဖြန့်ခင်းထားတော်မူ၏။ ၎င်းပြင် ယင်းပထဝီမြေ၌ တောင်များကို စိုက်ထူထားတော်မူ၏။ ထို့ပြင် ငါအရှင်မြတ်သည် ယင်းပထဝီမြေ၌ လှပတင့်တယ် ရှုချင်စဖွယ်ကောင်းသော အရာဝတ္ထုမျိုးစုံတို့ကို ပေါက်ရောက်စေထားတော်မူ၏။

تَبْصِرَةً وَذِكْرَىٰ لِكُلِّ عَبْدٍ مُّنِيبٍ ﴿٨﴾

၈။ (ထိုအလုံးစုံတို့မှာ) သံဝေဂရသော ကျွန်တိုင်းအဖို့ ဆင်ခြင်သုံးသပ်အပ်သောအရာသည်လည်းကောင်း၊ တရားရယူအပ်သောအရာသည်လည်းကောင်း၊ ဖြစ်ပေသည်။

وَنَزَّلْنَا مِنَ السَّمَاءِ مَاءً مُّبَارَكًا فَأَنبَتْنَا بِهِ جَنَّاتٍ وَحَبَّ الْحَصِيدِ ﴿٩﴾

၉။ ထိုမှတပါး ငါအရှင်မြတ်သည် မိုးကောင်းကင်မှ ကျက်သရေ မင်္ဂလာနှင့်ပြည့်စုံသော (မိုး)ရေကို ရွာသွန်းစေတော်မူ၏။ တစ်ဖန် ထိုရေဖြင့် ငါအရှင်မြတ်သည် ဥယျာဉ်များကိုလည်းကောင်း၊ ရိတ်သိမ်းပြီးဖြစ်သော ကောက်ပင်မျိုးနွယ်များကိုလည်းကောင်း၊ ပေါက်ရောက်စေတော်မူ၏။

وَالنَّخْلَ بَاسِقَاتٍ لَّهَا طَلْعٌ نَّضِيدٌ ﴿١٠﴾

၁၀။ ထိုနည်းတူစွာ ရှည်လျားမြင့်မားသော စွန်ပလွံပင်များကို (ပေါက်ရောက်စေတော်မူရာ) ယင်းစွန်ပလွံပင်များ၌ ပြွတ်၍ သီးနေသော အခိုင်များရှိနေပေသည်။

رِّزْقًا لِّلْعِبَادِ ۙ وَأَحْيَيْنَا بِهِ بَلْدَةً مَّيْتًا ۚ كَذَٰلِكَ الْخُرُوجُ ⑪

၁၁။ ကျွန်များအဖို့ စားနပ်ရိက္ခာအဖြစ် ထိုမှတပါး ငါအရှင်မြတ်သည် ထိုမိုးရေဖြင့် သေလွန်ခြောက်သွေ့ လျက်ရှိသော မြေကို ရှင်စေတော်မူ၏။ (လူအပေါင်းတို့ ရှင်၍) ပြန်ထွက်ခြင်းမှာလည်း ထိုနည်းအတိုင်းပင် ဖြစ်ချေအံ့သတည်း။

كَذَّبَتْ قَبْلَهُمْ قَوْمُ نُوحٍ وَأَصْحَابُ الرَّسِّ وَثَمُودُ ⑫

၁၂။ ထိုသူတို့အလျင် 'နူဟ်'၏အမျိုးသားတို့သည် လည်းကောင်း၊ ရတ်စ်(စ်)၌ နေထိုင်သူတို့သည် လည်းကောင်း၊ 'ဆမူဒ်' အမျိုးသားတို့သည်လည်း ကောင်း၊ မဟုတ်မမှန်ဟူ၍ စွပ်စွဲငြင်းပယ်ခဲ့ကြကုန်၏။

وَعَادٌ وَفِرْعَوْنُ وَإِخْوَانُ لُوطٍ ⑬

၁၃။ ထိုမှတပါး 'အာဒ်' အမျိုးသားတို့သည် လည်းကောင်း၊ 'ဖစ်ရ်အောင်န်' သည်လည်းကောင်း၊ 'လူတ်' ၏ ညီအစ်ကိုတို့သည်လည်းကောင်း၊

وَأَصْحَابُ الْأَيْكَةِ وَقَوْمُ تُبَّعٍ ۚ كُلٌّ كَذَّبَ الرُّسُلَ فَحَقَّ وَعِيدِ ⑭

၁၄။ ထို့ပြင် (အိုက်ကဟ်)တောအုပ်၌ နေထိုင်သူတို့ သည်လည်းကောင်း၊ 'သွဗ္ဗအ်' အမျိုးသားသည်လည်း ကောင်း၊ အားလုံးတို့သည်ပင် ရစူလ်တမန်တော်များ အား မဟုတ်မမှန်ဟူ၍ စွပ်စွဲငြင်းပယ်ခဲ့ကြပေရာ ငါ အရှင်မြတ်၏ချိန်းချက်မှုသည် (၎င်းတို့အပေါ်၌) သက်ရောက်ခဲ့၏။ [၁]

(၁) ဆိုလိုသည်ကား အရဗ်ကာဖိရ်များ သိထားအပ်သည်မှာ ၎င်းတို့ ယနေ့ တောင်ဟီးဒ်၊ ရိစာလတ်နှင့် ကိယာမတ်ကို သွေဖည်ငြင်းဆန် မဟုတ်မမှန်ဟု ပြောဆိုနေကြသကဲ့သို့၊ ၎င်းတို့အလျင်က တမန်တော်နူဟ်၏ အမျိုးသားများ၊ 'ရတ်စ်' ၌ နေထိုင်သူများ၊ ဆမူဒ်၊ အာဒ်၊ ဖိရ်အောင်န်နှင့် တမန်တော် လူတ့်၏ အမျိုးသားများ၊ 'အိုင်ကဟ်' တောအုပ်၌ နေထိုင်သူများ၊ 'တွဗ္ဗအ်' အမျိုးသားများသည်လည်း အသီးသီး ဤသည့် တောင်ဟီးဒ်၊ ရိစာလတ်နှင့် ကိယာမတ်ကို သွေဖည်ငြင်းဆန် မဟုတ်မမှန်ဟု ဆိုခဲ့ကြပေသည်။

နောက်ဆုံးတွင် ၎င်းတို့သည် အလ္လာဟ်အရှင်မြတ်၏ ပြစ်ဒဏ်သင့်၍ ပျက်စီးသွားခဲ့ကြရပေသည်။ အရဗီကာဖိရ်များသည်လည်း အချိန်မီ သတိသံဝေဂ ရရှိကြပါက ၎င်းတို့အလျင်ရှိခဲ့ကြသော ၎င်းတို့၏ ဆရာ ဆရာများကဲ့သို့ပင် အနေးနှင့်အမြန် အလ္လာဟ်အရှင်မြတ်၏ ပြစ်ဒဏ်သင့်ကြရပေမည်။

أَفَعَيِينَا بِالْخَلْقِ الْأَوَّلِ ۚ بَلْ هُمْ فِي لَبْسٍ مِّنْ خَلْقٍ جَدِيدٍ ﴿١٥﴾

၁၅။ ငါအရှင်မြတ်သည် ပထမအကြိမ် ဖန်ဆင်းတော်မူခဲ့သောကြောင့် ပင်ပန်း နွမ်းနယ်တော်မူခဲ့လေသလော။ ထိုသို့ အလျှင်းမဟုတ်။ စင်စစ်မှာကား ၎င်းတို့သည် အသစ်တစ်ဖန် ပြန်လည်ဖန်ဆင်းခြင်းနှင့် စပ်လျဉ်း၍ ယုံမှားသံသယ၌ ရှိနေကြကုန်သတည်း။

وَلَقَدْ خَلَقْنَا الْإِنسَانَ وَنَعْلَمُ مَا تُوَسْوِسُ بِهِ نَفْسُهُ ۖ وَنَحْنُ أَقْرَبُ إِلَيْهِ مِنْ حَبْلِ الْوَرِيدِ ﴿١٦﴾

၁၆။ ထိုမှတပါး ကေန်မလွဲ ငါအရှင်မြတ်သည် မနုဿလူသားအား ဖန်ဆင်းတော်မူခဲ့၏။ ထို့ပြင် ငါအရှင်မြတ်သည် ၎င်း၌ ၎င်း၏စိတ်က မသိမသာ ပေါ်ပေါက်စေသောအရာကိုလည်း သိတော်မူ၏။ စင်စစ်သော်ကား ငါအရှင်မြတ်သည် ၎င်း၏လည်ချောင်း သွေးကြောထက်ပင် ၎င်းနှင့် ပိုမိုနီးကပ်စွာ ရှိနေတော်မူ၏။

إِذْ يَتَلَقَّى الْمُتَلَقِّيَانِ عَنِ الْيَمِينِ وَعَنِ الشِّمَالِ قَعِيدٌ ﴿١٧﴾

၁၇။ (အို-နဗီတမန်တော် သတိပေးပါလေ။) အကြင်အခါဝယ် အကြင်အခါ၌ မှတ်သားသူနှစ်ဦးသည် (ထိုမနုဿလူသား၏) လယ်ယာဘက်မှလည်းကောင်း၊ လက်ဝဲဘက်မှလည်းကောင်း၊ ထိုင်၍ မှတ်သားလျက် ရှိကြ၏။ [1]

---

(၁) မှတ်တမ်းရေး ကောင်းကင်တမန် ၂-ပါး။

လူသားတိုင်း၌ အလ္လာဟ်အရှင်မြတ်သည် ကောင်းကင်တမန် ၂-ပါးကို အထူးခန့်အပ်ထားတော်မူ၏။ ကောင်းကင်တမန်တစ်ပါးသည် ညာဘက်၌ရှိ၏။ အခြားတစ်ပါးသည် ဝဲဘက်၌ရှိ၏။ ညာဘက်၌ရှိသော ကောင်းကင်တမန်သည် ကောင်းမှုများကို မှတ်သား၏။ ဝဲဘက်၌ရှိသော ကောင်းကင်တမန်သည် မကောင်းမှုများကို မှတ်သား၏။

ဆိုလိုသည်ကား လူသားတစ်ဦး၏ အကျင့်အကြံ၊ အပြုအမူများကို အလ္လာဟ်အရှင်မြတ်ကိုယ်တော်တိုင် အကြွင်းမဲ့ သိတော်မူသည်သာမက၊ ကောင်းကင်တမန်များကလည်း လူတိုင်းနှင့်ပတ်သက်၍ အမှုတွဲဖွင့်ထားပြီး၊ မှတ်တမ်းများလည်း အသေးစိတ် ရေးထားကြသည်။

သို့ဖြစ်ပေရာ လူသားအား ကျိုးပြစ်ပေးရာတွင် အလ္လာဟ်အရှင်မြတ်အဖို့ အသို့လျှင် အခက်အခဲရှိနိုင်အံ့နည်း။ ဤအကြောင်းနှင့်စပ်လျဉ်း၍ ကုရ်အာန်(၁၃:၁၁။ ၈၂:၁၀-၁၂)တွင်လည်း မိန့်ဆိုထား တော်မူသည်။

လူသားတစ်ဦးသည် ဤသည့်အချက်ကို နှလုံးသွင်းထားပါက ပြစ်မှုတစ်စုံတစ်ရာကို ကျူးလွန်ဝံ့မည် မဟုတ်ပေ။

مَا يَلْفِظُ مِن قَوْلٍ إِلَّا لَدَيْهِ رَقِيبٌ عَتِيدٌ ﴿١٨﴾

၁၈။ ထိုမနုဿလူသားသည် (နှုတ်ဖြင့်) မည်သည့်
စကားကိုမျှ မြွက်ဟသည်ဟူ၍မရှိချေ။ သို့ရာတွင်
ချောင်းမြောင်း၍ နေသူတစ်ဦးသည် ၎င်း၏အနီး၌ပင်
အသင့်ရှိနေ၏။

وَجَاءَتْ سَكْرَةُ الْمَوْتِ بِالْحَقِّ ۖ ذَٰلِكَ مَا كُنتَ مِنْهُ تَحِيدُ ﴿١٩﴾

၁၉။ စင်စစ်သော်ကား 'မရဏ' သေခြင်းတရား၏
*မိန်းမောမှုသည် မှန်ကန်စွာ ရောက်လာခဲ့ချေပြီ။* [၁]
ထိုသည်ပင် အကြင်အရာတည်း။ အသင်သည် ၎င်းမှ
(လွတ်မြောက်ရန်) တိမ်းရှောင်လျက် ရှိခဲ့၏။

وَنُفِخَ فِي الصُّورِ ۚ ذَٰلِكَ يَوْمُ الْوَعِيدِ ﴿٢٠﴾

၂၀။ ထိုမှတပါး တံပိုးခရာမှုတ်ခြင်း ခံရပေမည်။
ထိုသည်ပင် ချိန်းချက်ထားသောနေ့ ဖြစ်၏။ [၂]

وَجَاءَتْ كُلُّ نَفْسٍ مَّعَهَا سَائِقٌ وَشَهِيدٌ ﴿٢١﴾

၂၁။ ထိုမှတပါး လူတိုင်းသည် 'မဟ်ရှရ်' (စုရုံးရာ
ဌာနသို့) လာရပေမည်။ (ထိုအခါ) ၎င်းနှင့်အတူ
မောင်းနှင်သူတစ်ဦးနှင့် သက်သေတစ်ဦးရှိကြပေမည်။

لَّقَدْ كُنتَ فِي غَفْلَةٍ مِّنْ هَٰذَا فَكَشَفْنَا عَنكَ غِطَاءَكَ فَبَصَرُكَ الْيَوْمَ حَدِيدٌ ﴿٢٢﴾

၂၂။ ဧကန်မလွဲ အသင်သည် ဤနေ့နှင့် စပ်လျဉ်း၍
ပေ့ါဆမှု၌ ရှိနေခဲ့ပေသည်။ သို့ဖြစ်ပေရာ (ယခုမူ)
ငါအရှင်မြတ်သည် အသင့်အပေါ်မှ အကွယ်အကာကို
ဖယ်ရှား၍ ပေးတော်မူလိုက်ပြီ။ ထို့ကြောင့် ယနေ့
သော်ကား အသင်၏မြင်နိုင်သောသတ္တိမှာ ထိုးဖောက်
၍ မြင်နိုင်စွမ်းရှိနေပြီ ဖြစ်ပေသတည်း။

---

(၁) သေခြင်းတရားနှင့် တစ်ရက်ရင်ဆိုင်ရမည်ကို မည်သူမျှ မငြင်းနိုင်ပေ။ သို့တစေလည်း များသောအားဖြင့် ကိယာမတ်ကို လက်မခံခြင်း၏ အကြောင်းတစ်ရပ်မှာ သေခြင်းတရားကို မေ့ပျောက်နေတတ်ခြင်းကြောင့်ပင် ဖြစ်သည်။ ထို့အတွက် ကိယာမတ်အကြောင်း အလျင်၊ ကိယာမတ်၏ ရှေ့ပြေးဖြစ်သော သေခြင်းအကြောင်းကို မိန့်ဆိုထားတော်မူခြင်းဖြစ်သည်။

(၂) ကိယာမတ်အငယ်သည် သေချိန်၌ပင် ဖြစ်ပေါ်ခဲ့ချေပြီ။ ထို့နောက် ကိယာမတ်အကြီးသည် ရှေ့မှောက်တွင် အသင့်ရောက်ရှိနေချေပြီ။ အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်အရ သက်ဆိုင်ရာ ကောင်းကင်တမန်က တံပိုးခရာ မှုတ်လိုက်သည်နှင့် တပြိုင်တည်း ကြောက်မက်ဖွယ်ကောင်းလှသော ကိယာမတ်ကြီးဖြစ်လာချေမည်။ ဤကား အခြားမဟုတ်၊ ပွင့်လေသမျှသော တမန်တော်အသီးသီး သတိပေးခဲ့ကြသည့် ရက်ချိန်းနေ့ကြီးပင်။

وَقَالَ قَرِيْنُهٗ هٰذَا مَا لَدَيَّ عَتِيْدٌ ﴿٢٣﴾

၂၃။ ထို့ပြင် ၎င်း၏အဖော် (ကောင်းကင်တမန်) ကပြောဆိုပေမည်။ ဤသည် ကျွန်ုပ်၏ထံ၌ အဆင်သင့်ရှိသော (နေ့စဉ်မှတ်တမ်း) ဖြစ်၏။

اَلْقِيَا فِيْ جَهَنَّمَ كُلَّ كَفَّارٍ عَنِيْدٍ ﴿٢٤﴾

၂၄။ (ထိုအရှင်မြတ်သည် ကောင်းကင်တမန် နှစ်ပါးတို့အား မိန့်ကြားတော်မူပေမည်။) အသင်တို့ နှစ်ဦးသည် အကြင်သူတိုင်းအား 'ဂျဟန္နမ်' ငရဲဘုံထဲသို့ ပစ်ချကြလေကုန်။ ထိုသူသည် ကျေးဇူးကန်းသော၊ ဇွတ်တရွတ်နိုင်သော၊

مَّنَّاعٍ لِّلْخَيْرِ مُعْتَدٍ مُّرِيْبِ ﴿٢٥﴾

၂၅။ ကောင်းမှု(ပြုခြင်း)မှ တားမြစ်သော စည်းကမ်းကျူးလွန်သော၊ ဒွိဟသံသယဖြစ်သော၊

الَّذِيْ جَعَلَ مَعَ اللّٰهِ اِلٰهًا اٰخَرَ فَاَلْقِيٰهُ فِي الْعَذَابِ الشَّدِيْدِ ﴿٢٦﴾

၂၆။ အလ္လာဟ်အရှင်မြတ်နှင့်အတူ အခြားသောကိုးကွယ်ရာကို တွဲဖက်သတ်မှတ်သောသူဖြစ်သည်။ သို့ဖြစ်ပေရာ အသင်တို့နှစ်ဦးသည် ထို(ကဲ့သို့သော)သူအား *ပြင်းထန်စွာသောပြစ်ဒဏ်၌ပစ်ချကြလေကုန်*။ [၁]

قَالَ قَرِيْنُهٗ رَبَّنَا مَا اَطْغَيْتُهٗ وَلٰكِنْ كَانَ فِيْ ضَلٰلٍ بَعِيْدٍ ﴿٢٧﴾

၂၇။ ၎င်း၏အဖော် (ရှိုင်တွာန် မိစ္ဆာကောင်) ကပြောဆို (လျှောက်ထား)ပေမည်။ အို-ကျွန်တော်မျိုးတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၊ ကျွန်တော်မျိုးသည် ၎င်းအား ဆိုးသွမ်းမိုက်ကန်းစေခဲ့သည် မဟုတ်ပါ။ စင်စစ်မှာ ၎င်းကိုယ်တိုင်သည်ပင်လျှင် ဝေးလံစွာသော လမ်းမှားမှု၌ ရှိနေခဲ့ပါသည်။

---

(၁) **ကာဖိရ်များနှင့်ပတ်သက်သည့် စီရင်ချက်။**

ကိယာမတ်နေ့တွင် အလ္လာဟ်အရှင်မြတ်သည် ကာဖိရ်များနှင့်ပတ်သက်၍ ဤအာယတ်တော်တွင် လာရှိသည့်အတိုင်း အဆိုပါ ကောင်းကင်တမန် ၂-ပါးအား 'အသင်တို့ ၂-ဦးသည် ဇွတ်တရွတ်နိုင်သော၊ ကောင်းမှုမှ ပိတ်ပင်သော၊ စည်းကမ်း ကျူးလွန်သော၊ သံသယဖြစ်သော၊ ယှဉ်တွဲကိုးကွယ်သော ကာဖိရ်တိုင်းကို ဂျဟန္နမ်ငရဲဘုံအတွင်းသို့ ပစ်ချကြ'ဟု မိန့်ကြားကာ စီရင်ချက် ချမှတ်တော်မူပေမည်။

قَالَ لَا تَخْتَصِمُوا لَدَيَّ وَقَدْ قَدَّمْتُ إِلَيْكُم بِالْوَعِيدِ ﴿٢٨﴾

၂၈။ ထိုအရှင်မြတ်သည် မိန့်ကြားတော်မူပေမည်။ အသင်တို့သည် ငါအရှင်မြတ်၏အထံတော်၌ အငြင်းအခုံ မပြုကြကုန်လင့်။ အမှန်စင်စစ်မှာမူကား ငါအရှင်မြတ်သည် (ပြစ်ဒဏ်နှင့်စပ်လျဉ်း၍) ချိန်းဆိုချက်ကို အသင်တို့ထံသို့ တင်ကြို ပို့နှင့်တော်မူခဲ့ပြီးဖြစ်၏။

مَا يُبَدَّلُ الْقَوْلُ لَدَيَّ وَمَا أَنَا بِظَلَّامٍ لِّلْعَبِيدِ ﴿٢٩﴾

၂၉။ ငါအရှင်မြတ်အထံတော်၌ စကားပြောင်းလဲသည် ဟူ၍မရှိပြီ။ ထိုမှတပါး ငါအရှင်မြတ်သည် ကျွန်တို့အား *မတရားပြုလုပ်တော်မူသော အရှင်လည်း မဟုတ်ပြီ။* [၁]

يَوْمَ نَقُولُ لِجَهَنَّمَ هَلِ امْتَلَأْتِ وَتَقُولُ هَلْ مِن مَّزِيدٍ ﴿٣٠﴾

၃၀။ (အို-နဗီတမန်တော် အသင်သည် သတိရစေပါလေ။) အကြင်နေ့တွင် ငါအရှင်မြတ်သည် 'ဂျဟန္နမ်' ငရဲဘုံကို အသင်သည် ပြည့်လေပြီလောဟု မိန့်ကြားတော်မူမည်။ ထိုအခါ *ယင်းဂျဟန္နမ်ငရဲဘုံက 'နောက်ထပ် ရှိပါသေးသလော' ဟုလျှောက်ထားပေမည်။* [၂]

---

(၁) ကိယာမတ်နေ့တွင် ကာဖိရ်များနှင့်ပတ်သက်၍ အလ္လာဟ်အရှင်မြတ်ထံတော်မှ စီရင်ချက် ကျသောအခါ၊ ကာဖိရ်များသည် မိမိတို့ကိုယ်ကို ကာကွယ်နိုင်ရန်အတွက် မိမိတို့အား သွေးဆောင် ဖြားယောင်း လွဲမှားစေခဲ့ကြသော သူများအပေါ်၌ အပြစ်ဖို့ကြပေမည်။ ဤအကြောင်းကို ကုရ်အာန် (၃၄း၃၁-၃၃)တွင်လည်း မိန့်ဆိုထားတော်မူသည်။

ယင်းသွေးဆောင်ဖြားယောင်းသူများတွင် ရှိုင်တွာန်များလည်း ပါဝင်နေကြပေရာ၊ ကာဖိရ် လူသား၏ အဖော်ဖြစ်သော ရှိုင်တွာန်က ဤအာယတ်တော်တွင် ပါရှိသည့်အတိုင်း ကျွန်တော်မျိုးသည် ဤလူသားအား အတင်းအဓမ္မ လွဲမှားစေခဲ့သည် မဟုတ်ပါ။ ကျွန်တော်မျိုးသည် ဤသူ့အား သာမန်အားဖြင့် ဖြားယောင်းခဲ့ခြင်းသာ ဖြစ်ပါသည်။ အတင်းအဓမ္မမဟုတ်ပါ။ အမှန်မှာ ဤသူကိုယ်တိုင် ၎င်း၏ စေတနာအလျောက် အကြီးအကျယ် လွဲမှားနေခဲ့ပါသည်။ ထို့အတွက် ဤသူ၏ လွဲမှားမှုဒဏ် ကျွန်တော်မျိုး မခံထိုက်ပါဟု လျှောက်ထားပေမည်။

ထိုအခါ အလ္လာဟ်အရှင်မြတ်က အသင်တို့သည် ငါ့ထံတော်၌ ငြင်းခုံမနေကြနှင့်။ သွေဖည်ငြင်းဆန် မနာခံသူများနှင့်ပတ်သက်၍ မည်သို့မည်ပုံ အရေးယူတော်မူမည့်အကြောင်း အသင်တို့အားလုံးကို အသိပေးထားပြီး ဖြစ်သည်။ ငါ၏ထံတော်၌ စကားအပြောင်းအလဲမရှိ။

ဤသို့ ဆုံးဖြတ်ရာတွင် ငါအရှင်မြတ်သည် မည်သူ့အားမျှ မတရားပြုတော်မူသည်လည်းမဟုတ်၊ တရားသဖြင့် စီရင်ဆုံးဖြတ်တော်မူခြင်းသာဖြစ်သည်ဟု မိန့်ကြားတော်မူပေမည်။

وَأُزْلِفَتِ الْجَنَّةُ لِلْمُتَّقِينَ غَيْرَ بَعِيدٍ ﴿٣١﴾

၃၁။ ထိုမှတပါး 'ဂျန္နတ်' သုခဘုံသည် မွတ္တကီ သူတော်စင်များအနီးသို့ ယူလာခြင်းကို ခံရပေမည်။ (ယင်း'ဂျန္နတ်' သုခဘုံမှာ) ဝေးကွာလှမည် မဟုတ်ပေ။

هَٰذَا مَا تُوعَدُونَ لِكُلِّ أَوَّابٍ حَفِيظٍ ﴿٣٢﴾

၃၂။ ဤသည် (အလ္လာဟ်အရှင်မြတ်ဘက်သို့) ပြန်လှည့်သူ (ထိုအရှင်မြတ်၏ စည်းကမ်းသတ်မှတ်ချက်များကို )စောင့်စည်းသူတိုင်းအဖို့ ဖြစ်သည်ဟူ၍ အသင်တို့ ကတိပေးခြင်းခံကြရသောအရာပင် ဖြစ်ပေသည်။

مَّنْ خَشِيَ الرَّحْمَٰنَ بِالْغَيْبِ وَجَاءَ بِقَلْبٍ مُّنِيبٍ ﴿٣٣﴾

၃၃။ ထိုသူသည် 'ရဟ်မာန်' အနန္တကရုဏာတော်ရှင်အား မမြင်ဘဲလျက် ကြောက်ရွံ့ခဲ့၏။ ထိုမှတပါး ထိုသူသည် ပြန်လှည့်သော စိတ်နှလုံးကို ယူဆောင်လာခဲ့၏။

ادْخُلُوهَا بِسَلَامٍ ۖ ذَٰلِكَ يَوْمُ الْخُلُودِ ﴿٣٤﴾

၃၄။ (ထိုကဲ့သို့သော သူတို့သည် ဤသို့ မိန့်ကြားတော်မူခြင်းကို ခံကြရပေမည်။) အသင်တို့သည် ယင်း'ဂျန္နတ်' သုခဘုံသို့ငြိမ်းချမ်းစွာ ဝင်ရောက်ကြလေကုန်။ ဤသည် အမြဲထာဝရ နေထိုင်ရမည့်နေ့ဖြစ်၏။ ၁

---

(၂) **'ဂျဟန္နမ်' ၏ အကျယ်အဝန်း။**

ဆိုလိုသည်ကား အလ္လာဟ်အရှင်မြတ်သည် ကာဖိရ်များအား ဂျဟန္နမ်အတွင်းသို့ ထည့်သွင်းပြီးနောက် ဂျဟန္နမ်ကို 'အသင် ပြည့်ပြီလော' ဟု မေးတော်မူပေမည်။ ထိုအခါ ဂျဟန္နမ်က 'နောက်ထပ် ရှိပါသေးသလော' ဟု လျှောက်ထားပေမည်။ ဂျဟန္နမ်ကား ကျယ်ဝန်းပါဘိတကား၊ ကြောက်လန့်ဖွယ်ပါဘိတကား။

(အလ္လာဟ်အရှင်မြတ်သည် ကျွန်တော်မျိုးတို့အား ဂျဟန္နမ်မှ ဖယ်ရှားတော်မူပါစေသတည်း)။

(၁) ဆိုလိုသည်ကား ကိယာမတ်နေ့တွင် ဂျန္နတ်သည် မွတ္တကီ သူတော်စင်များအနီးသို့ပင် ယူဆောင်လာပြီးလျှင်၊ ယင်းမွတ္တကီများအား သက်ဆိုင်ရာ ကောင်းကင်တမန်များက ဤသည် အသင်တို့အား ကတိပြုထားသည့်အတိုင်း၊ အလ္လာဟ်အရှင်မြတ်ဘက်တော်သို့ ပြန်လှည့်သော၊ အမိန့်တော်များကို စောင့်စည်းသော၊ ထိုအရှင်မြတ်အား မမြင်ဘဲလျက် ကြောက်ရွံ့ခန့်ညားသော၊ ထိုအရှင်မြတ်ဘက်တော်သို့ ပြန်လှည့်သည့် စိတ်နှလုံးကို ယူဆောင်လာသော၊ သူမွန်သူမြတ်များ အဖို့သာလျှင်ဖြစ်သည်။ အသင်တို့သည် အေးချမ်းသာယာစွာဖြင့် ဤဂျန္နတ်တွင် ဝင်ရောက် စံမြန်းကြလော့။ ဤသည် အမြဲထာဝစဉ်ဖြစ်သည်ဟု ကောင်းချီးစကား ပြောဆိုကြပေမည်။

لَهُمْ مَّا يَشَآءُونَ فِيهَا وَلَدَيْنَا مَزِيدٌ ۝٣٥

၃၅။ ၎င်းတို့အဖို့ ယင်း'ဂျန္နတ်' သုခဘုံ၌ ၎င်းတို့ အလိုရှိကြသော အရာဟူ၍ ရှိရုံမျှမက ငါအရှင်မြတ် အထံတော်၌ (ထိုထက်) အပိုကျေးဇူးတော်များလည်း ရှိချေသတည်း။

وَكَمْ أَهْلَكْنَا قَبْلَهُم مِّن قَرْنٍ هُمْ أَشَدُّ مِنْهُم بَطْشًا فَنَقَّبُوا۟ فِى ٱلْبِلَٰدِ هَلْ مِن مَّحِيصٍ ۝٣٦

၃၆။ စင်စစ်သော်ကား ငါအရှင်မြတ်သည် ထိုသူတို့ အလျင် မြောက်မြားစွာသောလူမျိုးဆက်တို့ကို ဖျက်ဆီးတော်မူခဲ့၏။ ၎င်းတို့မှာ ထိုသူတို့ထက် ရဲစွမ်းသတ္တိခွန်အားဗလ ကြီးမားကြံ့ခိုင်သူများ ဖြစ်ခဲ့ကြကုန်၏။ ထိုအခါ ၎င်းတို့သည် အမြို့မြို့ အရွာရွာ၌ (ခိုလှုံရာ နေရာများကို)လိုက်လံ ရှာဖွေခဲ့ကြကုန်၏။ (သို့တစေလည်း ၎င်းတို့သည်) ထွက်ပြေး တိမ်းရှောင်ရာ နေရာဟူ၍ ရှာဖွေတွေ့ရှိခဲ့ကြလေသလော။

إِنَّ فِى ذَٰلِكَ لَذِكْرَىٰ لِمَن كَانَ لَهُۥ قَلْبٌ أَوْ أَلْقَى ٱلسَّمْعَ وَهُوَ شَهِيدٌ ۝٣٧

၃၇။ စင်စစ်ကေန် ဤသည်၌ စိတ်နှလုံးရှိသော သူတို့အဖို့ သို့မဟုတ် စိတ်ပါဝင်စားစွာ အသင့်ရောက်ရှိ၍ နားစိုက်သော သူတို့အဖို့ အမှန်ပင် သင်ခန်းစာ ရှိ၏။

وَلَقَدْ خَلَقْنَا ٱلسَّمَٰوَٰتِ وَٱلْأَرْضَ وَمَا بَيْنَهُمَا فِى سِتَّةِ أَيَّامٍ وَمَا مَسَّنَا مِن لُّغُوبٍ ۝٣٨

၃၈။ ထိုမှတပါး ဧကန်မလွဲ ငါအရှင်မြတ်သည် မိုးကောင်းကင်များကို လည်းကောင်း၊ ပထဝီမြေကို လည်းကောင်း၊ ထိုမိုးများနှင့်မြေကြားရှိ အရာများကို လည်းကောင်း၊ ခြောက်ရက်အတွင်း ဖန်ဆင်းတော်မူခဲ့၏။ သို့တစေလည်း ငါအရှင်မြတ်၌ ပင်ပန်းနွမ်းနယ်မှုဟူ၍ အလျှင်း သက်ရောက်ခဲ့သည်မရှိချေ။

فَٱصْبِرْ عَلَىٰ مَا يَقُولُونَ وَسَبِّحْ بِحَمْدِ رَبِّكَ قَبْلَ طُلُوعِ ٱلشَّمْسِ

၃၉။ သို့ဖြစ်ပေရာ (အို-နဗီတမန်တော်)၊ အသင်သည် ၎င်းတို့၏ ပြောဆိုမှုများနှင့် စပ်လျဉ်း၍ သည်းခံပါလေ။ ထို့ပြင် အသင်သည် နေမထွက်မီလည်းကောင်း၊ နေမဝင်မီလည်းကောင်း၊ အသင့်အား

وَقَبْلَ الْغُرُوبِ ﴿٣٩﴾

ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်အား ချီးမွမ်းထောပနာပြုခြင်းနှင့်တကွ (ထိုအရှင်မြတ်) စင်ကြယ်သန့်ရှင်းတော်မူကြောင်း မြွက်ဆိုလျက် ရှိပါလေ။

وَمِنَ الَّيْلِ فَسَبِّحْهُ وَأَدْبَارَ السُّجُودِ ﴿٤٠﴾

၄၀။ ထိုမှတပါး အသင်သည် ညဉ့်အချိန်၌လည်းကောင်း၊ 'ဆွလာတ်'[၁] ဝတ်ပြုမှုများ၏ နောက်တွင်လည်းကောင်း၊ ထိုအရှင်မြတ် စင်ကြယ်သန့်ရှင်းတော်မူကြောင်း မြွက်ဆိုပါလေ။[၂]

وَاسْتَمِعْ يَوْمَ يُنَادِ الْمُنَادِ مِن مَّكَانٍ قَرِيبٍ ﴿٤١﴾

၄၁။ ထို့ပြင် (အို-ကြားနာသူ) အသင်သည် နားထောင်လော့၊ အကြင်နေ့တွင် ဟစ်အော်သူ (တစ်ဦး) သည် နီးကပ်စွာသော နေရာမှ ဟစ်အော်မည်။

يَوْمَ يَسْمَعُونَ الصَّيْحَةَ بِالْحَقِّ ذَٰلِكَ يَوْمُ الْخُرُوجِ ﴿٤٢﴾

၄၂။ အကြင်နေ့တွင် ယင်း(ကြောက်မက်ဖွယ်ကောင်းသော) ဟစ်အော်သံကို (အားလုံးတို့ပင်) မုချဧကန် မုန်ကန်စွာ ကြားကြရပေမည်။ ထိုနေ့သည် (သင်္ချိုင်းများမှ) ထွက်ကြရမည့်နေ့ပင်။[၃]

---

(၁) ဤအာယတ်တော်တွင် 'စုဂျူဒ်' ဟူသည် ဆွလာတ်ကိုပင် ဆိုလိုသည်။ ဆိုလိုသည်ကား ဝတ်ပြုပြီးနောက်တွင် (တတ်စ်ဗီဟ်) အလ္လာဟ်အရှင်မြတ်အား ဂုဏ်တော်များ မွှမ်းရသည်။ အဆို တစ်ရပ်အရ ဤအာယတ်တော်တွင် ပါရှိသော တတ်စ်ဗီဟ်သည် ဖရ်စ်ဆွလာတ်များနောက် အပိုအဖြစ် ဆောက်တည်ရသော နဖ်လ် ဆွလာတ်များကို ဆိုလိုသည်။ ကြည့်- မာဂျိဒီ၊ ရာဃိဗ်။

(၂) ဤကဲ့သို့ ရှင်းလင်းပြတ်သားသော အချက်များကိုပင် မက္ကာမြို့သား ကာဖိရ်များ နားမလည်ကြပါက နားမလည်သူများ၏အပြစ်ပင်။ တမန်တော်မြတ်သည် ထိုသို့သောသူများနှင့်ပတ်သက်၍ စိတ်ဆင်းရဲရန် မလိုပေ။ ၎င်းတို့ သွားပုပ်လေလွင့် ပြောဆိုနေသည်များအပေါ်၌သည်းခံကာ မိမိ၏အရှင်သခင်အားသာ အမြဲတစေအောက်မေ့တသ သတိရကာ ဂုဏ်တော်မွှမ်း၍ နေရမည်သာ။ ဤအာယတ်တော်တွင် ဖော်ပြပါရှိသော အချိန်များသည် အလ္လာဟ်အရှင်မြတ်အား အောက်မေ့တသ သတိရရန်အတွက် အထူးလျော်ကန်သင့်မြတ်သော အချိန်များဖြစ်သည်။ ထိုအချိန်များတွင် ဆုပန်ကြားခြင်း၊ ဝတ်ပြုခြင်းများကို အလ္လာဟ်အရှင်မြတ်သည် အထူးတလည်လက်ခံတော်မူသည်။

အချို့ (ရိဝါယတ်) ကျမ်းချက်များအရ အစပထမတွင် တမန်တော်မြတ်အပေါ်၌ ဆွလာတ်သုံးကြိမ်သာ 'ဖရည်' တာဝန်ရှိခဲ့သည်။ (၁) ဖဂျ်ရ် ဆွလာတ်။ (၂) အတ်ဆ်ရ် ဆွလာတ်။ (၃) တဟဂျ်ဂျုဒ် ဆွလာတ်။ ယခုလည်း ဤအချိန် သုံးချိန်တွင် ဆွလာတ်ဝတ်ပြုမှု၊ ဆုပန်ကြားမှုများသည် ထူးကဲမြင့်မြတ်လှပေသည်။ အချို့က ဤအာယတ်တော်တွင် နေမထွက်မီအချိန်သည် ဖဂျ်ရ်ဆွလာတ်ကိုရည်ညွှန်းသည်။ နေမဝင်မီအချိန်သည် ဇုဟ်ရ်ဆွလာတ်နှင့် အတ်ဆ်ရ်ဆွလာတ်ကို ရည်ညွှန်းသည်။ ညဉ့်အချိန်ဟူသည် မဃ်ရိဗ်နှင့် အိရှာဆွလာတ်ကို ရည်ညွှန်းသည်ဟု ဆိုလိုသည်။

إِنَّا نَحْنُ نُحْيِۦ وَنُمِيتُ وَإِلَيْنَا ٱلْمَصِيرُ ﴿٤٣﴾

၄၃။ ဧကန်မလွဲ ငါအရှင်မြတ်သည်ပင် ရှင်စေတော်မူ၏။ ၎င်းပြင် ငါအရှင်မြတ်သည်ပင် သေဆုံးစေတော်မူ၏။ ထိုမှတပါး ငါအရှင်မြတ်အထံတော်သို့ပင် ပြန်လာကြရပေမည်။

يَوْمَ تَشَقَّقُ ٱلْأَرْضُ عَنْهُمْ سِرَاعًا ۚ ذَٰلِكَ حَشْرٌ عَلَيْنَا يَسِيرٌ ﴿٤٤﴾

၄၄။ အကြင်နေ့တွင် (၎င်းတို့) ပြေးလျက်ရှိကြစဉ် မြေသည် ၎င်းတို့အပေါ်မှ ပွင့်ထွက်သွားပေမည်။ ဤသည် ငါအရှင်မြတ်အဖို့ လွယ်ကူသောစုရုံးခြင်းပင်။

نَّحْنُ أَعْلَمُ بِمَا يَقُولُونَ ۖ وَمَآ أَنتَ عَلَيْهِم بِجَبَّارٍ ۖ فَذَكِّرْ بِٱلْقُرْءَانِ مَن يَخَافُ وَعِيدِ ﴿٤٥﴾

၄၅။ ငါအရှင်မြတ်သည် ၎င်းတို့ပြောဆိုသမျှတို့ကို အသိတော်မူဆုံးပင်ဖြစ်တော်မူ၏။ စင်စစ်သော်ကား (အို–နဗီတမန်တော်) အသင်သည် ၎င်းတို့အပေါ်၌ အနိုင်အထက်ပြုသူမဟုတ်ပေ။ သို့ဖြစ်ပေရာ အသင်သည် ငါအရှင်မြတ်၏ ချိန်းဆိုချက်ကို ကြောက်ရွံ့သူအား ကုရ်အာန်ကျမ်းတော်မြတ်ဖြင့် ဩဝါဒပေးလျက်နေပါလေ။ ၁

---

(၇) ကိယာမတ်ဖြစ်စေရန် ဟာစ်အော်တံပိုးမှုတ်ရန် တာဝန်မှာ ကောင်းကင်တမန် အီစ်ရာဖီလ်၏ တာဝန်ဖြစ်သည်။ ကောင်းကင်တမန် အီစ်ရာဖီလ်၏အသံကို လူတိုင်းလူတိုင်းသည် အနီးမှပင် ကြားရပေမည်။ ကောင်းကင်တမန် အီစ်ရာဖီလ်၏ ဟာစ်အော်သံကို ကြားကြရသည့်နေ့သည် သင်္ချိုင်းများမှ ထွက်ကြရမည့်နေ့ပင်။

ဟဒီးဆ် ဩဝါဒတော်များတွင် လာရှိသည်မှာ ကောင်းကင်တမန် အီစ်ရာဖီလ် ပထမအကြိမ် တံပိုးမှုတ်လိုက်သည့်အခါ အားလုံးသေကြေ ပျက်စီးသွားကြပေမည်။ ဒုတိယအကြိမ် တံပိုးမှုတ်လိုက်သည့်အခါ အားလုံး ရှင်ပြန်ထလာကြပေမည်။ ဆိုလိုသည်ကား ဖန်ဆင်းသောအရှင်၊ ပြုစုပျိုးထောင်သောအရှင်၊ ကွပ်မျက်သောအရှင်၊ ကမ္ဘာပျက်ပြုန်း နိဂုံးနေ့ နောက်ဆုံးတွင် စီရင်ချက်ချမည့်အရှင်သည် အပြောမဟုတ်၊ အများမဟုတ်၊ အလ္လာဟ်အရှင်မြတ် တပါးတည်းပင်။

(၁) ဆိုလိုသည်ကား လူတိုင်းလူတိုင်းအား မိမိ၏ တရားများကို အတင်းအဓမ္မ အကျပ်ကိုင်၍ နာခံစေခြင်းမှာ တမန်တော်မြတ်၏ တာဝန်မဟုတ်။ ယင်းသို့ အကျပ်ကိုင်၍ နာခံစေခြင်းမှ ဖြစ်ပေါ်လာမည့် နာခံမှုသည်လည်း စေတနာမပါသော အယောင်ဆောင် နာခံမှုသာဖြစ်ပေမည်။ တရားမဝင်။ အချည်းအနှီးပင်။

သို့ဖြစ်ရာ အလ္လာဟ်အရှင်မြတ်၏ ချိန်းချက်သတိပေးချက်ကို ကြောက်ရွံ့သောသူများအား ကုရ်အာန်ကျမ်းလာ ဒေသနာတော်များဖြင့် အထူးတလည် သွန်သင်ဆုံးမ တရားချ၍နေရမည်သာ။ ကုရ်အာန်ကျမ်းမြတ်သည် ကမ္ဘာသူကမ္ဘာသား အားလုံးတို့အား တရားပြသည်ကားမှန်၏။ သို့ရာတွင် အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ရိုသေ ခန့်ညားသော စိတ်နှလုံးရှိသောသူများသာလျှင် ကုရ်အာန်ကျမ်းလာ ဒေသနာတော်များဖြင့် လက်တွေ့အကျိုးခံစားကြပေသည်။ ဤအချက်ကို ဤအာယတ်တော်တွင် ရည်ညွှန်းထားတော်မူသည်။

## လွင့်ပါးစေသောလေများ ကဏ္ဍ




ဤကဏ္ဍသည် "ဇာရိယာတ်" လွင့်ပါးစေသော လေများ ကဏ္ဍမည်၏။ မက္ကာမြို့တော်၌ ကျရောက်ခဲ့၏။ ဤကဏ္ဍတွင် အာယတ်တော် (၆၀)ပါး၊ ရကူအ် အပိုဒ်(၃)ပိုဒ်၊ အသီးသီးပါရှိ၏။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ ۝

အနန္တကရုဏာတော်ရှင် ဖြစ်တော်မူသော၊ အစဉ် သနားကြင်နာ ညှာတာတော်မူသော၊ အလ္လာဟ်အရှင်မြတ်၏ နာမံတော်ဖြင့် အစပြုပါ၏။

وَالذّٰرِيٰتِ ذَرْوًا ۝١

၁။ (ငါအရှင်မြတ်သည်) လွင့်ပါးစေခြင်းအားဖြင့် ကစဉ့်ကလျား ဖြစ်စေသောလေများကို သက်သေထူတော်မူ၏။

فَالْحٰمِلٰتِ وِقْرًا ۝٢

၂။ တစ်ဖန် ဝန်ကို တင်ဆောင်ကြကုန်သော လေများ၊ တိမ်များကို သက်သေထူတော်မူ၏။

فَالْجٰرِيٰتِ يُسْرًا ۝٣

၃။ တစ်ဖန် ညင်သာစွာတိုက်ခတ်ကြသော သွားလာလှုပ်ရှားကြသော လေ၊ လှေများကို သက်သေထူတော်မူ၏။

فَالْمُقَسِّمٰتِ اَمْرًا ۝٤

၄။ တစ်ဖန် အမိန့်တော်အရ ခွဲဝေပေးသော လေများကို၊ အရာဝတ္ထုများကို ခွဲဝေပေးသော 'မလာအိကဟ်' ကောင်းကင်တမန်များကို သက်သေထူတော်မူ၏။ [၁]

---

⃝၁ အလ္လာဟ်အရှင်မြတ်သည် ဤကဏ္ဍ၏အစ အာယတ်တော် (၄) ပါးတွင် လေးမျိုးလေးစားသော လေများကို ဆင်ခြင်ရန်အလေးအနက် မိန့်ဆိုထားတော်မူသည်။ (၁) လွင့်ပါးစေသောလေများ၊ (၂) တိမ်များကို သယ်သော လေများ၊ (၃) မိုးမရွာသွန်းမီ ညင်သာစွာတိုက်ခတ်သော လေများ၊ (၄) မိုးရေများကို ခွဲဝေဖြန့်ဖြူးသောလေများ၊ ဤသို့ဖြင့် ကမ္ဘာမြေပြင်တွင် အံ့ဖွယ်သရဲ မိုးများ ရွာသွန်းလျက် ရှိသည်။ ဤသည်တို့သည် အလ္လာဟ်အရှင်မြတ်၏ စီရင်ဖန်တီးမှု၏ အကျိုးပင်။ ဤသည်တို့ကိုပင် စဉ်းစားဆင်ခြင်မြော်မြင်ပါက အလ္လာဟ်အရှင်မြတ်၏ တန်ခိုးတော် အနန္တကို သိမြင်နိုင်ပေသည်။ ➤➤

إِنَّمَا تُوعَدُونَ لَصَادِقٌ ۝٥

၅။ ကေန်မလွဲ အသင်တို့ ချိန်းဆိုခြင်းခံကြရလေသော ချိန်းဆိုချက်မှာ အမှန်ပင် မှန်ကန်သော ချိန်းဆိုချက် ဖြစ်၏။

وَإِنَّ الدِّينَ لَوَاقِعٌ ۝٦

၆။ ၎င်းပြင် ဧကန်စင်စစ် အစားပေးမည့်နေ့မှာ အမှန်ပင် ဆိုက်ရောက်လာအံ့သော နေ့ဖြစ်၏။

وَالسَّمَاءِ ذَاتِ الْحُبُكِ ۝٧

၇။ (ငါအရှင်မြတ်သည်) လမ်းကြောင်းများရှိသော မိုးကောင်းကင်ကို သက်သေထူတော်မူ၏။ ၁

إِنَّكُمْ لَفِي قَوْلٍ مُّخْتَلِفٍ ۝٨

၈။ မလွဲဧကန် အသင်တို့သည် ကွဲပြားခြားနားသော ပြောဆိုမှုများ၌ ရှိနေကြကုန်၏။

يُؤْفَكُ عَنْهُ مَنْ أُفِكَ ۝٩

၉။ ထို('ကိယာမတ်' ရှင်ပြန်ထမည့်နေ့ကို ယုံကြည်ခြင်း)မှ သွေဖည်သူသည်(ကောင်းမြတ်ခြင်းအားလုံးမှ) သွေဖည်သူသာ ဖြစ်သည်။ ၂

---

➤➤ အချို့ (အာလင်မ်) ပညာရှင်များက ဤအာယတ်တော်တွင် (ဇာရိယာတ်) တိုက်ခတ်သောအရာများဟူသည် လေများကို ရည်ညွှန်းသည်။ (ဟာမိလာတ်) သယ်ဆောင်သောအရာများဟူသည် တိမ်များကိုရည်ညွှန်းသည်။ (ဂျာရိယာတ်) စီးတွေသွားလာနေသော အရာများသည် ကြယ်များကို ရည်ညွှန်းသည်။ (မုကတ်စ်စိမာတ်) ခွဲဝေဖြန့်ဖြူးပေးသော အရာများဟူသည် ကောင်းကင်တမန်များကို ရည်ညွှန်းသည်ဟု ဆိုကြသည်။

ဤအာယတ်တော်နှင့်စပ်လျဉ်း၍ သာဝကကြီး အလီသခင်ထံမှတဆင့် ကြားသိရသည်မှာ (ဇာရိယာတ်)သည် လေများကို ဆိုလိုသည်။ (ဟာမိလာတ်)သည် တိမ်များကို ဆိုလိုသည်။(ဂျာရိယာတ်)သည် လှေများကို ဆိုလိုသည်။(မုကတ်စ်စိမာတ်)သည် ကောင်းကင်တမန်များကို ဆိုလိုသည်။

(၁) ဆိုလိုသည်ကား မိုးကောင်းကင်သည် မြင့်စွင့်လှ၏။ ကြည်လင်လှ၏။ ကြယ်တာရာအပေါင်းနှင့် ဆင်ယင်ထားသည်မှာလည်း ရှုမငြီးပင်။ ယင်းမိုးကောင်းကင်တွင် လမ်းကြောင်းများရှိသည်မှာလည်း အံ့မခန်းပင်။ ဤသည်လည်း အလ္လာဟ်အရှင်မြတ်၏ စီရင်ဖန်တီးမှု၏ အကျိုးပင်။

ကောင်းကင်၌ရှိသော လမ်းများကား အဘယ်နည်း။ ဤတွင် အဆို ၂-ရပ်ရှိ၏။ (၁) အချို့က မိုးကောင်းကင်ရှိ လမ်းကြောင်းများဟူသည် ကြယ်တာရာများကို အကြောင်းပြု၍ တွေ့မြင်နေရသော လမ်းများကို ရည်ညွှန်းသည်ဟု ဆိုကြသည်။ (၂) အချို့က အသိဉာဏ်နှင့်ယှဉ်၍ သိရှိရသော အသိဉာဏ်ဆိုင်ရာ လမ်းများကို ရည်ညွှန်းသည်ဟု ဆိုကြသည်။ ဤသည့်သဘောကို ကုရ်အာန် (၃:၁၈၉-၁၉၀) တွင်လည်း မိန့်ဆိုထားတော်မူသည်။ ကြည့်-ရာဃိဗ်။

(၂) ဆိုလိုသည်ကား- အချို့သူများသည် ကိယာမတ်နှင့်စပ်လျဉ်း၍ တစ်စုံတစ်ရာ စဉ်းစားဆင်ခြင်ခြင်း➤➤

၁၀။ (သာသနာ့ရေးရာများနှင့် စပ်လျဉ်း၍) ရမ်းဆ ပြောဆိုကြကုန်သောသူတို့သည် ပျက်စီးကြရပေမည်။

قُتِلَ الْخَرَّاصُونَ ﴿١٠﴾

၁၁။ အကြင်သူတို့သည် မသိမိုက်မဲမှု၌ မေ့လျော့ လျက် ရှိနေကြကုန်၏။

الَّذِينَ هُمْ فِي غَمْرَةٍ سَاهُونَ ﴿١١﴾

၁၂။ ၎င်းတို့သည် (မထီမဲ့မြင်ပြုသောအားဖြင့်) အစားပေးမည့်နေ့သည် မည်သည့်အခါ၌ ဆိုက်ရောက် ပါမည်နည်း ဟု မေးမြန်းကြကုန်၏။

يَسْأَلُونَ أَيَّانَ يَوْمُ الدِّينِ ﴿١٢﴾

၁၃။ အကြင်နေ့တွင် ၎င်းတို့သည် မီးထဲ၌ချခြင်းကို ခံကြရပေမည်။

يَوْمَ هُمْ عَلَى النَّارِ يُفْتَنُونَ ﴿١٣﴾

၁၄။ (ထိုနေ့တွင် ၎င်းတို့မှာ) အသင်တို့သည် မိမိ တို့၏ ပြစ်ဒဏ်၏ရသာကို မြည်းစမ်းကြလေကုန်။ ဤသည်ပင်လျှင် အသင်တို့ အလျင်စလို တောင်းဆို ခဲ့ကြသောနေ့ဖြစ်သည်။ (ဟုပြောဆိုခြင်းကို ခံကြရကုန် အံ့သတည်း။)

ذُوقُوا فِتْنَتَكُمْ هَٰذَا الَّذِي كُنتُم بِهِ تَسْتَعْجِلُونَ ﴿١٤﴾

၁၅။ ဧကန်မလွဲ 'မုတ္တကီ' သူတော်စင်တို့မှာ ဥယျာဉ် များနှင့် စမ်းချောင်းများ၌ ရှိနေကြပေမည်။

إِنَّ الْمُتَّقِينَ فِي جَنَّاتٍ وَعُيُونٍ ﴿١٥﴾

၁၆။ (၎င်းတို့သည်) မိမိတို့အား ဖန်ဆင်းမွေးမြူ တော်မူသော အရှင်မြတ်က မိမိတို့အား ချီးမြှင့်ပေးသနား တော်မူသည်တို့ကို ယူငင်လျက် ရှိကြပေမည်။ စင်စစ် ဧကန် ၎င်းတို့မှာ ထိုသည့်အလျင် ကောင်းမှုပြုသူများ ပင် ဖြစ်ခဲ့ကြကုန်၏။

آخِذِينَ مَا آتَاهُمْ رَبُّهُمْ ۚ إِنَّهُمْ كَانُوا قَبْلَ ذَٰلِكَ مُحْسِنِينَ ﴿١٦﴾

---

➤➤ မပြုဘဲ အကြောင်းမဲ့ ငြင်းခုံနေကြသည်။ ထိုသို့သောသူများသည် စကြာဝဠာကြီး၏ အခြား အစိတ်အပိုင်းများကို ထားဘိဦး။ မိုးကောင်းကင်၏ ရပ်တည်နေပုံကိုပင် စဉ်းစားဆင်ခြင် မြော်မြင်ပါက၊ အလ္လာဟ်အရှင်မြတ်၏ တန်ခိုးတော်အနန္တနှင့် ကိယာမတ်ကို ကောင်းစွာ တွေ့မြင်လာနိုင်ပေသည်။ သို့ပါလျက် ကိယာမတ်အကြောင်းကို သွေဖည်ငြင်းဆန်ပါက ထိုသူသည် ကောင်းခြင်းအဖြာဖြာမှ ကင်းဝေးရမည်သာတည်း။

كَانُوْا قَلِيْلًا مِّنَ الَّيْلِ مَا يَهْجَعُوْنَ ﴿١٧﴾

၁၇။ ၎င်းတို့သည် ညဉ့်တွင် အနည်းငယ်မျှသော အချိန်၌သာ အိပ်စက်လေ့ ရှိခဲ့ကြကုန်၏။

وَبِالْاَسْحَارِ هُمْ يَسْتَغْفِرُوْنَ ﴿١٨﴾

၁၈။ ထို့ပြင် ၎င်းတို့သည် ညဉ့်၏နောက်ဆုံးယံများတွင် လွတ်ငြိမ်းချမ်းသာခွင့်ကို ပန်ကြား အသနားခံလေ့ရှိခဲ့ကြကုန်၏။

وَفِيْۤ اَمْوَالِهِمْ حَقٌّ لِّلسَّآئِلِ وَالْمَحْرُوْمِ ﴿١٩﴾

၁၉။ ထိုမှတပါး ထိုသူတို့၏ ပစ္စည်းဥစ္စာများတွင် တောင်းရမ်းသော သူဆင်းရဲအဖို့လည်းကောင်း၊ (သိက္ခာစောင့်စည်းသောအားဖြင့်) တောင်းရမ်းခြင်းမပြုသော သူဆင်းရဲအဖို့လည်းကောင်း၊ ဝေစုဝေပုံ (အခွင့်အရေး) ရှိခဲ့၏။ ၁

وَفِى الْاَرْضِ اٰيٰتٌ لِّلْمُوْقِنِيْنَ ﴿٢٠﴾

၂၀။ စင်စစ်သော်ကား ယုံကြည်လိုသောသူတို့အဖို့ ပထဝီမြေ၌ များစွာသောသက်သေ လက္ခဏာများ ရှိကုန်၏။

---

(၁) ဆိုလိုသည်ကား မုတ္တကီသူတော်စင်များသည် ဂျန္နတ်တွင် အေးချမ်းသာယာစွာ စံစားလျက် ရှိကြပေမည်။ မိမိတို့၏ အရှင်သခင်က မိမိတို့အား ချီးမြှင့်တော်မူမည့် သုခချမ်းသာအဖြာဖြာ ကိုလည်း ကြည်ဖြူစွာ လက်ခံလျက် ရှိကြပေမည်။

ဤသို့ ဂျန္နတ်၏ အမတသုခများကို စံစားရခြင်းမှာ အကြောင်းမဲ့မဟုတ်။ ယင်းမုတ္တကီ သူတော်စင်များသည် ပစ္စက္ခဘဝတွင် ရှိခဲ့ကြစဉ်က ကောင်းမှုများ ပြုခဲ့ကြပေသည်။ နေ့အချိန်များတွင် မဆိုထားနှင့်၊ ညဉ့်၌ပင် နိုးထကာ အလ္လာဟ်အရှင်မြတ်အား ဝတ်ပြုလေ့ရှိခဲ့ကြသည်။ ယင်းသို့ ဝတ်ပြုခဲ့ကြသည့်အတွက် အထင်မကြီးခဲ့ကြပေ။ ညဉ့်၏ နောက်ဆုံးယံများ၌ မိမိတို့၏ ချို့တဲ့မှုများနှင့် စပ်လျဉ်း၍ ချမ်းသာခွင့် ပန်ကြားလေ့ရှိခဲ့ကြပေသည်။

ထိုသူတော်စင်များသည် ဇကာတ်အပြင် မိမိတို့၏ ဥစ္စာပစ္စည်းများတွင် တောင်းရမ်းစားသုံးရရှာသော သူဆင်းရဲများအဖို့ လည်းကောင်း၊ တောင်းရမ်း မစားသုံးဝံ့ရှာသော သူဆင်းရဲအဖို့ လည်းကောင်း၊ ဆင်းရဲသူဆင်းရဲသား အားလုံးတို့အဖို့ ဝေစုဝေပုံများ၊ အခွင့်အရေးများ ရှိသည်ဟူ၍ပင် စေတနာအလျောက် သတ်မှတ်၍ ထားခဲ့ကြပေသည်။

မုတ္တကီသူတော်စင်များသည် ယင်းသို့ ကောင်းမှုများကို ဆည်းပူးခဲ့ကြသည့်အတွက် ယင်းကောင်းမှုတို့၏ သီးပွင့်များဖြစ်သော ဂျန္နတ်၏ အမတသုခများကို နောင်တမလွန်ဘဝတွင် စံစားကြရခြင်း ဖြစ်ပေသည်။

وَفِيٓ أَنفُسِكُمۡۚ أَفَلَا تُبۡصِرُونَ ٢١

၂၁။ ထိုနည်းတူစွာ အသင်တို့ကိုယ်များတွင်လည်း (သက်သေလက္ခဏာများ) ရှိကုန်၏။ သို့ပါလျက် အသင်တို့သည် မမြင်ကြလေသလော။

وَفِي ٱلسَّمَآءِ رِزۡقُكُمۡ وَمَا تُوعَدُونَ ٢٢

၂၂။ ထို့ပြင် မိုးကောင်းကင်၌ အသင်တို့၏ စားနပ်ရိက္ခာသည်လည်းကောင်း၊ အသင်တို့ကတိပေးခြင်းခံကြရလေသောအရာသည်လည်းကောင်း၊ ရှိပေသည်။ ၁

فَوَرَبِّ ٱلسَّمَآءِ وَٱلۡأَرۡضِ إِنَّهُۥ لَحَقّٞ مِّثۡلَ مَآ أَنَّكُمۡ تَنطِقُونَ ٢٣

၂၃။ သို့ဖြစ်ပေရာ မိုးကောင်းကင်ကိုလည်းကောင်း၊ ပထဝီမြေကိုလည်းကောင်း၊ ဖန်ဆင်းတော်မူသောအရှင်မြတ်၏ 'ကစမ်'၊ ယင်း ('ကိယာမတ်' ဖြစ်ခြင်း၊ စားနပ်ရိက္ခာရရှိခြင်း၊ တမလွန်ဘဝ ဆိုက်ရောက်ခြင်းနှင့် အလ္လာဟ်အရှင်မြတ်၏ ကတိတော်အတိုင်း စံစား၊ ခံစားရခြင်းတို့)သည် အသင်တို့ စကားပြောဆိုကြဘိသကဲ့သို့ပင် မှန်ကန်လှပေသတည်း။ ၂

هَلۡ أَتَىٰكَ حَدِيثُ ضَيۡفِ إِبۡرَٰهِيمَ ٱلۡمُكۡرَمِينَ ٢٤

၂၄။ (အို-နဗီတမန်တော်၊) အသင့်ထံသို့ (နဗီတမန်တော်) အီဗ်ရာဟီမ်၏ ဂုဏ်သရေရှိ ဧည့်သည်တော်များ၏အကြောင်း ရောက်ရှိခဲ့လေသလော။

---

(၁) ဆိုလိုသည်ကား မိမိတို့၏ ဥစ္စာပစ္စည်းများကို ဆင်းရဲသူဆင်းရဲသားများအား ပေးကမ်းသည့်အတွက် မိမိတို့ကိုယ်ပိုင် စား၊ ဝတ်၊ နေရေးတွင် ကသီလင်တ ဖြစ်သွားကြလိမ့်မည်ဟူ၍ ပူပန်ရန် လည်းမလို၊ ဆင်းရဲသူ ဆင်းရဲသားများအား လှူဒါန်းပြီးနောက် ဂုဏ်ဖော်ရန်လည်းမလို။ အဘယ်ကြောင့်ဆိုသော် အားလုံးတို့၏ ရိက္ခာနှင့် ကျိုးပြစ်များသည် ကောင်းကင်ရှင်ဖြစ်တော်မူသော အလ္လာဟ်အရှင်မြတ်၏ လက်တော်တွင်း၌သာ ရှိပေသည်။ ရိက္ခာသည် သူ့အချိန်နှင့်သူ သက်ဆိုင်ရာထံသို့ ရောက်ရှိလာမည်သာဖြစ်သည်။ မည်သူမျှမပိတ်ပင် မတားဆီးနိုင်။ သူတပါးအား လှူဒါန်းပါက လှူဒါန်းသည့် အတွက် ကုသိုလ်အကျိုး သီးခြားရရှိဦးမည်ပင်။
(၂) ဆိုလိုသည်ကား လူသားတို့သည် မိမိတို့အချင်းချင်း စကားပြောဆိုကြ၏။ သို့စကားပြောဆိုရာတွင် တစ်စုံတစ်ရာ ဒွိဟသံသယ မဖြစ်ကြပေ။ စကားပြောဆိုရာတွင် ဒွိဟသံသယ မရှိသကဲ့သို့၊ ဤအာယတ်တော်တွင်လည်း တစ်စုံတစ်ရာ ဒွိဟသံသယ အလျင်းမရှိပေ။ (ဝါ) ရိက္ခာသည် သက်ဆိုင်ရာထံသို့ သူ့အချိန်နှင့်သူ မုချ ရောက်ရှိလာမည်။ ကိယာမတ် မုချဖြစ်မည်။ နောင်တမလွန်ဘဝတွင် ကျိုးပြစ်ခံ စံကြရမည်။ အလ္လာဟ်အရှင်မြတ်၏ ကတိတော်များသည် အားလုံးအတည်ဖြစ်မည်သာတည်း။

إِذْ دَخَلُوا عَلَيْهِ فَقَالُوا سَلَامًا ۖ قَالَ سَلَامٌ قَوْمٌ مُّنكَرُونَ ﴿٢٥﴾

၂၅။ အကြင်အခါဝယ် ထိုဧည့်သည်တော်တို့သည် ထိုအီဗ်ရာဟီမ်၏ထံသို့ ဝင်ရောက်ခဲ့၍ 'စလာမ်' (ငြိမ်းချမ်းစွာ ရှိပါစေသော)ဟူ၍ ပြောဆိုခဲ့ကြကုန်၏။ ထိုအီဗ်ရာဟီမ်ကလည်း 'စလာမ်'ဟူ၍ ပြန်ကြားခဲ့၏။ (တစ်ဖန် မိမိစိတ်ထဲတွင် ဤသူတို့မှာ ငါ)မသိသော သူစိမ်းများပင် ဖြစ်ကြသည်(ဟု မှတ်ချက်ချခဲ့လေ၏၊)

فَرَاغَ إِلَىٰ أَهْلِهِ فَجَاءَ بِعِجْلٍ سَمِينٍ ﴿٢٦﴾

၂၆။ တစ်ဖန် ထိုအီဗ်ရာဟီမ်သည် မိမိအိမ်(ထဲ)သို့ ဝင်ပြီးလျှင် (ကင်ထားသော) ဝဖြိုးသည့် နွားကလေး တစ်ကောင်ကို ယူလာခဲ့လေ၏။

فَقَرَّبَهُ إِلَيْهِمْ قَالَ أَلَا تَأْكُلُونَ ﴿٢٧﴾

၂၇။ ပြီးနောက် (ကင်ထားသော) ထိုနွားကလေးကို ထိုဧည့်သည်တို့အပါး၌ နေရာတကျ တည်ခင်း(ဧည့်ခံ)ခဲ့လေ၏။ (ထို့နောက် ဧည့်သည်တို့အား) အသင်တို့သည် အဘယ်ကြောင့် မစားကြပါသနည်းဟု မေးမြန်းခဲ့၏။

فَأَوْجَسَ مِنْهُمْ خِيفَةً ۖ قَالُوا لَا تَخَفْ ۖ وَبَشَّرُوهُ بِغُلَامٍ عَلِيمٍ ﴿٢٨﴾

၂၈။ ထို့နောက် (၎င်းတို့စားသုံးခြင်း မပြုကြသောကြောင့်) ထိုအီဗ်ရာဟီမ်သည် မိမိစိတ်ထဲတွင် ၎င်းတို့ဘက်မှ စိုးရိမ်လာခဲ့လေ၏။ (ထိုအခါ) ၎င်းတို့က အသင်သည် မစိုးရိမ်ပါလေနှင့်ဟု ပြောဆိုကြ၏။ ထို့ပြင် ၎င်းတို့သည် ထိုအီဗ်ရာဟီမ်အား အလွန်တရာ အသိပညာနှင့်ပြည့်စုံသော သားရတနာတစ်ပါးနှင့် ပတ်သက်၍ သတင်းကောင်း ပြောကြားခဲ့ကြ၏။

فَأَقْبَلَتِ امْرَأَتُهُ فِي صَرَّةٍ فَصَكَّتْ وَجْهَهَا وَقَالَتْ عَجُوزٌ عَقِيمٌ ﴿٢٩﴾

၂၉။ ထိုရောကာလ ထိုအီဗ်ရာဟီမ်၏ ဇနီးကြင်ရာသည် အသံကျယ်စွာ ပြောဆိုညည်းညူလျက် ရှေ့သို့ ရောက်ရှိ၍လာပြီးလျှင် မိမိနဖူးကို လက်ဝါးဖြင့်ရိုက်ကာ အသက်အရွယ် ကြီးရင့်အိုမင်းလျက်ရှိသော မြုံ၍နေသော မိန်းမတစ်ဦးသည် (သားဖွားဦးမည်လော)ဟု ပြောဆိုခဲ့လေ၏။

قَالُوا كَذٰلِكِ قَالَ رَبُّكِ إِنَّهُ هُوَ الْحَكِيمُ الْعَلِيمُ ﴿٣٠﴾

၃၀။ (ထိုအခါ) ထိုဧည့်သည်တို့က 'အသင့်အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်သည် ဤအတိုင်း ပင် မိန့်ကြားတော်မူခဲ့သည်။ ဧကန်မလွဲ ထိုအရှင်မြတ် သည် နက်နဲသိမ်မွေ့သောအသိပညာနှင့် ပြည့်စုံတော် မူသောအရှင်၊ (အရာခပ်သိမ်းတို့ကို) အကြွင်းမဲ့ သိရှိ တော်မူသောအရှင် ဖြစ်တော်မူသည်'ဟူ၍ ပြန်ကြားခဲ့ ကြကုန်သတည်း။ [၁]

(၁) တမန်တော် အီဗ်ရာဟီမ် (အလိုင်ဟစ္စလာမ်)ထံသို့ ကောင်းကင်တမန်များ ရောက်ရှိလာပြီး 'စလာမ်' ဆိုသည့်အကြောင်း၊ တမန်တော် အီဗ်ရာဟီမ်က 'စလာမ်' ပြန်သည့်အကြောင်း၊ ဧည့်ခံ ကျွေးမွေးသည့်အကြောင်း၊ ကောင်းကင်တမန်များ မစားသုံးကြသည်ကို တွေ့မြင်သောအခါ တမန်တော် အီဗ်ရာဟီမ် စိုးရိမ်မကင်းဖြစ်ခဲ့သည့် အကြောင်း၊ ကောင်းကင်တမန်များက တမန်တော်အီဗ်ရာဟီမ်အား မစိုးရိမ်ရန် ပြောခဲ့ကြသည့်အကြောင်း၊ သားတော်တစ်ပါး ထွန်းကားမည်ဟူ၍ ကောင်းချီးသတင်းပေး ခဲ့ကြသည့်အကြောင်း၊ အသက်အရွယ် ကြီးရင့်ခါမှ သားတော်တစ်ပါး ထွန်းကားမည်ဟူသော စကားနှင့်စပ်လျဉ်း၍ တမန်တော် အီဗ်ရာဟီမ်၏ ကြင်ရာတော် စာရဟ်သခင်မက အံ့သြခဲ့သည့်အကြောင်း၊ ကောင်းကင်တမန်များက ဤအတိုင်းပင်ဖြစ်မည် ဟူ၍ ထပ်ဆင့် ပြောကြားခဲ့သည့် အကြောင်းများသည် ကုရ်အာန် (၁၁း၆၉-၇၆။ ၁၅း၅၁-၆၀)တွင် ပါရှိခဲ့ပေပြီ။ သက်ဆိုင်ရာ အဖွင့်များကိုလည်း အကျယ်ရေးသားခဲ့ပေပြီ။

قَالَ فَمَا خَطْبُكُمْ أَيُّهَا الْمُرْسَلُونَ ۝٣١

၃၁။ (ထိုအခါ) ထိုအီဗ်ရာဟီမ်က သို့ဖြစ်လျှင် အသင်တို့၌ မည်သည့် အရေးကိစ္စ ရှိသနည်းဟု မေးမြန်းခဲ့လေ၏။

قَالُوا إِنَّا أُرْسِلْنَا إِلَىٰ قَوْمٍ مُّجْرِمِينَ ۝٣٢

၃၂။ ၎င်းတို့က ပြောကြားခဲ့ကြလေသည်။ ဧကန် အမှန် ကျွန်ုပ်တို့သည် အပြစ်ကျူးလွန်ကြကုန်သော အမျိုးသားတို့ထံ စေလွှတ်ခြင်း ခံခဲ့ကြရကုန်၏။

لِنُرْسِلَ عَلَيْهِمْ حِجَارَةً مِّن طِينٍ ۝٣٣

၃၃။ ကျွန်ုပ်တို့သည် ၎င်းတို့အပေါ်၌ ရွှံ့စေးဖြင့် ပြီးသော (ကျောက်)ခဲများကို ရွာသွန်းချစေရန် (စေလွှတ်ခြင်း ခံခဲ့ကြရလေသည်)။

مُّسَوَّمَةً عِندَ رَبِّكَ لِلْمُسْرِفِينَ ۝٣٤

၃၄။ (ယင်းကျောက်ခဲများမှာ) တရားစည်းကမ်း ကျူးလွန်သူတို့အဖို့ အသင့်အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်အထံတော်၌ မှတ်သားပြီးဖြစ်၏။

فَأَخْرَجْنَا مَن كَانَ فِيهَا مِنَ الْمُؤْمِنِينَ ۝٣٥

၃၅။ ထိုအခါ ငါအရှင်မြတ်သည် ယင်းမြို့ရွာ၌ ရှိကုန်သော 'မုအ်မင်န်' သက်ဝင်ယုံကြည်သူတို့အား ထုတ်ယူ လွှတ်မြောက်စေတော်မူခဲ့၏။

فَمَا وَجَدْنَا فِيهَا غَيْرَ بَيْتٍ مِّنَ الْمُسْلِمِينَ ۝٣٦

၃၆။ သို့ရာတွင် ငါအရှင်မြတ်သည် ထိုမြို့ရွာ၌ မုစ်လင်မ်အိမ်တစ်အိမ်သာလျှင် တွေ့ရှိတော်မူခဲ့၏။ ၁

---

① **'မုအ်မင်န်'၊ 'မွတ်စ်လင်မ်'**

ဤအာယတ်တော်[ကုရ်အာန်(၅၁း၃၅-၃၆)]တွင် တမန်တော်လူတ်၏ အိမ်သူအိမ်သားတပည့်သားများနှင့် ပတ်သက်၍ 'မုအ်မင်န်' များဟူ၍ လည်းကောင်း၊ 'မွတ်စ်လင်မ်' များ ဟူ၍လည်းကောင်း သုံးနှုန်းထားတော်မူသည်။ ဤသည်ကိုအကြောင်းပြု၍ အချို့မုဖတ်စ်စစ်ရ်ပညာရှင်များက မုအ်မင်န်နှင့် မွတ်စ်လင်မ်၊ အီမာန်နှင့် အစ္စလာမ်သည် အနက်တူ၊ အဓိပ္ပာယ်တူပုဒ်များဖြစ်သည်ဟု ယူဆကြသည်။

သို့ရာတွင် အများမုဖတ်စ်စစ်ရ်များ၏ ယူဆချက်အရမူ မုအ်မင်န်နှင့် မွတ်စ်လင်မ်၊ အီမာန်နှင့် အစ္စလာမ် မတူ အနည်းငယ်ခြားနားသည်။ 'မွတ်စ်လင်မ်'ဟူသော ပုဒ်သည် မုအ်မင်န်၊ မွတ်စ်လင်မ် အားလုံးနှင့် ပတ်သက်၍ သုံးနိုင်သောပုဒ် ဖြစ်သည်။ မုအ်မင်န်ဟူသောပုဒ်မှာကား စိတ်နှလုံးသည်းပွတ်အတွင်းမှ နှစ်နှစ်ကာကာ (အီမာန်) စွဲယူယုံကြည်သော ပုဂ္ဂိုလ်များနှင့် ပတ်သက်၍သာ သုံးနှုန်းရသော သီးသန့်ပုဒ်ဖြစ်သည်။ 'မုအ်မင်န်'ကို 'မွတ်စ်လင်မ်' ဟု သုံးနှုန်းခေါ်ဝေါ်လိုက်ရုံမျှဖြင့် မုအ်မင်န်နှင့် မွတ်စ်လင်မ်သည် အဓိပ္ပါယ်တူ၊ အနက်တူ ➢➢

وَتَرَكْنَا فِيهَا آيَةً لِّلَّذِينَ يَخَافُونَ الْعَذَابَ الْأَلِيمَ ﴿٣٧﴾

၃၇။ ထိုမှတစ်ပါး ငါအရှင်မြတ်သည် ထိုမြို့ရွာတွင် နာကျင်ဖွယ်ဖြစ်သောပြစ်ဒဏ်ကို ကြောက်ရွံ့စိုးရိမ်သောသူတို့အကျိုးငှာ သက်သေလက္ခဏာတစ်ပါးကို ကျန်ရစ်စေတော်မူခဲ့ပေသတည်း။

وَفِي مُوسَىٰ إِذْ أَرْسَلْنَاهُ إِلَىٰ فِرْعَوْنَ بِسُلْطَانٍ مُّبِينٍ ﴿٣٨﴾

၃၈။ ၎င်းပြင် မူစာ(၏အကြောင်း အတ္ထုပ္ပတ္တိ)တွင်လည်း (သက်သေလက္ခဏာ)ရှိ၏။ အကြင်အခါဝယ် ငါအရှင်မြတ်သည် ထိုမူစာအား 'ဖစ်ရ်အောင်န်'၏ထံသို့ ထင်ရှားစွာသော သက်သေသာဓကနှင့်တကွ စေလွှတ်တော်မူခဲ့၏။

فَتَوَلَّىٰ بِرُكْنِهِ وَقَالَ سَاحِرٌ أَوْ مَجْنُونٌ ﴿٣٩﴾

၃၉။ သို့ရာတွင် 'ဖစ်ရ်အောင်န်'မှာ မိမိစွမ်းအင်ကို အားကိုး၍ မျက်နှာလွှဲခဲ့၏။ (မိမိ၏အခြွေအရံ အသင်းအပင်းများနှင့်အတူ သွေဖည် ကျောခိုင်းသွားခဲ့၏။) ထို့ပြင် ၎င်းက တမန်တော်(မူစာအား) ပဉ္စလက်ဆရာ သို့မဟုတ် ရူးသွပ်သူဖြစ်သည်ဟူ၍ ပြောဆိုခဲ့လေ၏။

فَأَخَذْنَاهُ وَجُنُودَهُ فَنَبَذْنَاهُمْ فِي الْيَمِّ وَهُوَ مُلِيمٌ ﴿٤٠﴾

၄၀။ သို့ဖြစ်ပေရာ ငါအရှင်မြတ်သည် ထို 'ဖစ်ရ်အောင်န်' အားလည်းကောင်း၊ ထို 'ဖစ်ရ်အောင်န်'၏ စစ်သည်တို့အားလည်းကောင်း၊ ဖမ်းဆီး၍ သမုဒ္ဒရာပင်လယ်ထဲသို့ပစ်ချတော်မူခဲ့၏။ စင်စစ် ထိုဖစ်ရ်အောင်န်မှာ ပြင်းထန်စွာ ပြစ်တင်ရှုတ်ချအပ်သောသူ ဖြစ်ခဲ့၏။

وَفِي عَادٍ إِذْ أَرْسَلْنَا عَلَيْهِمُ الرِّيحَ الْعَقِيمَ ﴿٤١﴾

၄၁။ ထို့ပြင် 'အာဒ်' အမျိုးသားတို့(၏ အဖြစ်အပျက်)၌လည်း (သင်ခန်းစာ)ရှိပေသည်။ တစ်ရံရောအခါဝယ် ငါအရှင်မြတ်သည် ၎င်းတို့အပေါ်၌ မင်္ဂလာကင်းမဲ့သော လေပြင်းမုန်တိုင်းကို စေလွှတ်တော်မူခဲ့၏။

---

➤➤ ဖြစ်မသွားပေ။ ဤအတိုင်း ကဗီရ်၊ ရူဟ်၊ ဗိုင်သွာဝီ၊ အစ်ဗ်နကဆီရ် ကျမ်းကြီးများတွင် ဖွင့်ဆိုရေးသား ထားကြသည်ကို တွေ့ရှိရပေသည်။

مَا تَذَرُ مِنْ شَيْءٍ أَتَتْ عَلَيْهِ
إِلَّا جَعَلَتْهُ كَالرَّمِيمِ ﴿٤٢﴾

၄၂။ ယင်းလေပြင်းမုန်တိုင်းသည် မည်သည့်တစ်စုံ တစ်ရာပေါ်၌မဆို သက်ရောက်ခဲ့သည်ရှိသော် ထိုအရာဝတ္ထုကို ဆွေးမြည့်ပြီး အပိုင်းပိုင်းအစစ ဖြစ်ဘိသကဲ့သို့ ပြုလုပ်ခဲ့သည်ချည်းသာ။

وَفِي ثَمُودَ إِذْ قِيلَ لَهُمْ تَمَتَّعُوا
حَتَّىٰ حِينٍ ﴿٤٣﴾

၄၃။ ထိုမှတစ်ပါး 'ဆမူဒ်' အမျိုးသားတို့(၏အဖြစ်အပျက်)၌လည်း (သင်ခန်းစာ)ရှိ၏။ အခါတစ်ပါး၌ ၎င်းတို့သည် ပြောကြားခြင်းကို ခံခဲ့ကြရလေ၏။ 'အသင်တို့သည် အနည်းငယ်မျှ ကာလတိုင်အောင် အကျိုးကျေးဇူး ခံစားကြလေကုန်'

فَعَتَوْا عَنْ أَمْرِ رَبِّهِمْ
فَأَخَذَتْهُمُ الصَّاعِقَةُ
وَهُمْ يَنْظُرُونَ ﴿٤٤﴾

၄၄။ သို့ရာတွင် ၎င်းတို့သည် မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၏ အမိန့်တော်ကို ပုန်ကန်ခဲ့ကြပေရာ ပြစ်ဒဏ်သည် ၎င်းတို့အား ၎င်းတို့ရှုမြင်ရှိနေကြစဉ်မှာပင် ဖမ်းဆီးကွပ်မျက်ခဲ့လေသည်။

فَمَا اسْتَطَاعُوا مِنْ قِيَامٍ
وَمَا كَانُوا مُنْتَصِرِينَ ﴿٤٥﴾

၄၅။ ထိုအခါ ၎င်းတို့မှာ မတ်တပ်ရပ်နေရန်ပင် မတတ်စွမ်းနိုင်ခဲ့ကြပေ။ ထိုမှတစ်ပါး ၎င်းတို့သည် လက်စားချေနိုင်ခဲ့ကြသည်လည်း မရှိချေ။

وَقَوْمَ نُوحٍ مِنْ قَبْلُ إِنَّهُمْ
كَانُوا قَوْمًا فَاسِقِينَ ﴿٤٦﴾

၄၆။ ထိုနည်းတူစွာ (ငါအရှင်မြတ်သည်) (၎င်းတို့) အလျင် နူဟ်၏အမျိုးသားတို့အားလည်း (ဖျက်ဆီးတော်မူခဲ့၏)။ ဧကန်မလွဲ ၎င်းတို့မှာကား အမိန့်တော်ကို ဖောက်ဖျက်ကျူးလွန်သော အမျိုးသားတို့ပင် ဖြစ်ခဲ့ကြကုန်သတည်း။

وَالسَّمَاءَ بَنَيْنَاهَا بِأَيْدٍ
وَإِنَّا لَمُوسِعُونَ ﴿٤٧﴾

၄၇။ ၎င်းပြင် ငါအရှင်မြတ်သည် မိုးကောင်းကင်ကို တန်ခိုးတော်ဖြင့် ပြုလုပ်တော်မူခဲ့၏။ စင်စစ်သော်ကား ဧကန်မလွဲ ငါအရှင်မြတ်သည် ကျယ်ဝန်းစွာသော တန်ခိုးတော်ရှင် ဖြစ်တော်မူ၏။

وَالْاَرْضَ فَرَشْنٰهَا فَنِعْمَ الْمٰهِدُوْنَ ﴿٤٨﴾

၄၈။ ထိုနည်းတူစွာ ငါအရှင်မြတ်သည် ပထဝီမြေကို ခင်းကျင်းတော်မူခဲ့၏။ စင်စစ်မှာကား (ငါအရှင်မြတ်သည်) လွန်စွာကောင်းမြတ်သော ခင်းကျင်းတော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူ၏။

وَمِنْ كُلِّ شَيْءٍ خَلَقْنَا زَوْجَيْنِ لَعَلَّكُمْ تَذَكَّرُوْنَ ﴿٤٩﴾

၄၉။ ထိုမှတစ်ပါး ငါအရှင်မြတ်သည် အသင်တို့ တရားရယူကြအံ့သောငှာ *အရာဝတ္ထုတိုင်းကို နှစ်မျိုးနှစ်စား ဖန်ဆင်းတော်မူခဲ့၏။* [၁]

فَفِرُّوْٓا اِلَى اللّٰهِ ۭ اِنِّيْ لَكُمْ مِّنْهُ نَذِيْرٌ مُّبِيْنٌ ﴿٥٠﴾

၅၀။ သို့ဖြစ်ပေရာ အသင်တို့သည် အလ္လာဟ်အရှင်မြတ်အထံတော်သို့ ပြေးလွှားကြလေကုန်။ ဧကန်စင်စစ် ငါသည် အသင်တို့အဖို့ ထိုအရှင်မြတ်၏အထံတော်မှ ထင်ရှားစွာ သတိပေးနှိုးဆော်သူဖြစ်၏။

وَلَا تَجْعَلُوْا مَعَ اللّٰهِ اِلٰـهًا اٰخَرَ ۭ اِنِّيْ لَكُمْ مِّنْهُ نَذِيْرٌ مُّبِيْنٌ ﴿٥١﴾

၅၁။ ၎င်းပြင် အသင်တို့သည် အလ္လာဟ်အရှင်မြတ်နှင့်အတူ အခြားတစ်စုံတစ်ရာ ကိုးကွယ်ရာကို ဖက်စပ်သတ်မှတ်ခြင်း မပြုကြကုန်လင့်။ ဧကန်အမှန် ငါသည် အသင်တို့အဖို့ ထိုအရှင်မြတ်အထံတော်မှ ထင်ရှားစွာ သတိပေး နှိုးဆော်သူပင် ဖြစ်ပေသတည်း။

كَذٰلِكَ مَآ اَتَى الَّذِيْنَ مِنْ قَبْلِهِمْ مِّنْ رَّسُوْلٍ اِلَّا قَالُوْا سَاحِرٌ اَوْ مَجْنُوْنٌ ﴿٥٢﴾

၅၂။ ထိုနည်းတူစွာ ၎င်းတို့အလျင် ရှိခဲ့ကြသောသူတို့ထံသို့ ရဆူလ်တမန်တော်တစ်ပါးပါး လာရောက်ခဲ့တိုင်း ထိုသူတို့သည် (ရဆူလ်တမန်တော်)အား ပဉ္စလက်ဆရာဖြစ်သည် ဟူ၍သော်လည်းကောင်း၊ ရူးသွပ်သောသူဖြစ်သည် ဟူ၍သော်လည်းကောင်း၊ ပြောဆိုခဲ့ကြကုန်၏။

---

(၁) ဤအာယတ်တော်တွင် ပါရှိသော 'ဇောင်ဂျိုင်န်' ဟူသော ပုဒ်၏အနက်မှာ အဖို–အမဟူ၍လည်း ဖြစ်၏။ ဆန့်ကျင်ဘက် နှစ်မျိုးနှစ်စားဟူ၍လည်းရ၏။

ဆိုလိုသည်ကား– အလ္လာဟ်အရှင်မြတ်သည် အရာရာ၌ အဖိုနှင့်အမ ဖန်ဆင်းထားတော်မူသည်။ ဤသည် မျက်မြင်ပင်၊ ထို့အတူအလ္လာဟ်အရှင်မြတ်သည် မိုးနှင့်မြေ၊ နေ့နှင့်ည၊ နေနှင့်လ၊ အလင်းနှင့်အမှောင်၊➤➤

أَتَوَاصَوْا بِهِ ۚ بَلْ هُمْ قَوْمٌ طَاغُونَ ﴿٥٣﴾

၅၃။ ၎င်းတို့သည် အချင်းချင်း တစ်ဦးကိုတစ်ဦး ဤအတိုင်း ပြောဆိုကြရန် မှာကြားခဲ့ကြလေသလော။ ထိုသို့ အလျှင်းမဟုတ်။ စင်စစ် ၎င်းတို့(အားလုံး)မှာကား ဆိုးသွမ်းသူတို့ပင် ဖြစ်ခဲ့ကြကုန်၏။

فَتَوَلَّ عَنْهُمْ فَمَا أَنتَ بِمَلُومٍ ﴿٥٤﴾

၅၄။ သို့ဖြစ်ပေရာ (အို-နဗီတမန်တော်၊) အသင်သည် ၎င်းတို့အား လျစ်လျူရှုနေပါလေ။ အကြောင်းသော်ကား အသင်သည် ပြစ်တင်ခြင်းခံရမည် မဟုတ်သောကြောင့်ပင်။

وَذَكِّرْ فَإِنَّ الذِّكْرَىٰ تَنفَعُ الْمُؤْمِنِينَ ﴿٥٥﴾

၅၅။ ထိုမှတစ်ပါး အသင်သည် ဆုံးမဩဝါဒပေးလျက်ရှိပါလေ။ အဘယ်ကြောင့်ဆိုသော် ဆုံးမဩဝါဒသည် 'မုအ်မင်န်' သက်ဝင် ယုံကြည်သူတို့အား အကျိုးရှိစေသောကြောင့်ပင်။ [၁]

---

➤➤ အဖြူနှင့်အမည်း၊ အကောင်းနှင့်အဆိုး အမျိုးမျိုးလည်း ဖန်ဆင်းထားတော်မူသည်။ ဤသည်လည်း မျက်မြင်ပင်။ ဤသည်ကို စဉ်စားဆင်ခြင် မြော်မြင်ပါက အလ္လာဟ်အရှင်မြတ်၏ အတိုင်းအဆမရှိ တန်ခိုးတော်ကို သိမြင် နိုင်ပေသည်။ ဤသည့်သဘောကို ကုရ်အာန် (၁၃း၃၊ ၃၆း၃၆၊ ၅၁း၄၉၊ ၅၃း၄၅၊ ၅၅း၅၂၊ ၇၅း၃၉) တွင်လည်း မိန့်ဆိုထားတော်မူသည်။ (၃၆း၃၆) တွင် အကျယ်ရေးသားခဲ့ပေပြီ။ ပြန်လည်ရှုပါကုန်။

(၁) ဆိုလိုသည်ကား - တမန်တော်မြတ်သည် မိမိ၌ အဓိက တာဝန်ဖြစ်သော (တဗ်လီဃ်) တရားဟောကြားမှုကို ကျေပွန်စွာ ဆောင်ရွက်ပြီးတော်မူချေပြီ။ သို့ဖြစ်ရာ သွေဖည်ငြင်းဆန်နေကြသော ကာဖိရ်များနှင့် ပတ်သက်၍ စိတ်ပူပင်နေတော်မူရန် မလိုပေ။ တရားဟောကြားပါလျက်၊ မနာခံပါက၊ မနာခံသူ၏ အပြစ်သာဖြစ်သည်။ တမန်တော်မြတ်၌ မည်သို့မျှ အပြစ်ဆိုဖွယ်ရာမရှိချေ။

တမန်တော်မြတ်၏ အဓိကတာဝန်မှာ တရားဟောကြားရန်ဖြစ်ပေရာ၊ တမန်တော်မြတ်သည် တာဝန်အရ ဆက်လက်၍ တရားဟောကြားနေတော်မူရမည်သာဖြစ်သည်။

သို့ တရားဟောကြားခြင်းသည် နောင်တစ်ချိန်၊ အီမာန်၊ သက်ဝင်ယုံကြည်လာကြမည့် ပုဂ္ဂိုလ်များ အဖို့လည်း၊ အသုံးဝင်ပေမည်။ အီမာန်ယုံကြည်ပြီးသော မုအ်မင်န်များ၌လည်း အကျိုးထူးဖြစ်စေမည်။ ထို့ပြင်တစ်ဝ၊ သို့တရားဟောကြားတော်မူခြင်းဖြင့် သွေဖည်ငြင်းဆန်မနာခံသော ကာဖိရ်များသည်လည်း တစ်စုံတစ်ရာ ငြင်းချက်ထုတ်နိုင်ကြတော့မည် မဟုတ်ပေ။

وَمَا خَلَقْتُ الْجِنَّ وَالْإِنسَ إِلَّا لِيَعْبُدُونِ ﴿٥٦﴾

၅၆။ စင်စစ်သော်ကား ငါအရှင်မြတ်သည် ဂျင်န် သတ္တဝါတို့အားလည်းကောင်း၊ မနုဿ လူသားတို့အား လည်းကောင်း၊ ငါအရှင်မြတ်အား ဆည်းကပ် ကိုးကွယ် ကြရန်သာလျှင် ဖန်ဆင်းတော်မူခဲ့၏။ ①

مَا أُرِيدُ مِنْهُم مِّن رِّزْقٍ وَمَا أُرِيدُ أَن يُطْعِمُونِ ﴿٥٧﴾

၅၇။ ငါအရှင်မြတ်သည် ၎င်းတို့ထံမှ စားနပ်ရိက္ခာ ကိုလည်း အလိုရှိတော်မူသည် မဟုတ်ပေ။ ငါအရှင် မြတ်အား ၎င်းတို့ ကျွေးမွေးကြရန်ကိုလည်း ငါအရှင် မြတ်သည် အလိုရှိတော်မူသည် မဟုတ်ပေ။

---

① ဤအာယတ်တော်တွင်ပါရှိသော 'အိဗာဒတ်' ၏ အနက်ကား ကျယ်ဝန်းလှသည်။ ဤနေရာ၌ 'အိဗာဒတ်'သည် အရေးကိစ္စအဝဝကို အလ္လာဟ်အရှင်မြတ်၏ အလိုတော်ကျ ဆောင်ရွက်ခြင်း အနက်၌ဖြစ်သည်။

သုခမိန်ကြီး အေမာမ် ရာဇီက 'အိဗာဒတ်' အရပ်ရပ်၏ အချုပ်မှာ -

(၁) အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်များကို ရိုသေလေးစားခြင်းနှင့်

(၂) ထိုအရှင်မြတ် ဖန်ဆင်းထားတော်မူသည့် အဖန်ဆင်းခံတို့အား သနားကြင်နာခြင်းပင်ဖြစ်သည်။ ဟု ဖွင့်ဆိုရေးသားခဲ့သည်။

တစ်နည်းဆိုသော် 'အိဗာဒတ်' ဟူသည် (ဟုကူကုလ္လာဟ်) အလ္လာဟ်အရှင်မြတ်နှင့် ပတ်သက်သော တာဝန်များနှင့် (ဟုကူကုလ် အိဗာဒ်) သတ္တဝါအပေါင်းတို့နှင့် ပတ်သက်သော တာဝန်များကို ထမ်းဆောင်ခြင်းပင် ဖြစ်သည်။ ကြည့်- မာဂျိဒ်၊

အလ္လာဟ်အရှင်မြတ်သည် လူသားနှင့် ဂျင်န်တို့အား 'အိဗာဒတ်' အတွက်သာလျှင် ဖန်ဆင်းထားတော် မူခြင်းဖြစ်သည်ဟု ဆိုထားတော်မူရာ၊ အိဗာဒတ်ကား အဘယ်နည်း၊ အိဗာဒတ်ဟူသည် အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်ကို လေးစားခန့်ညားး နာယူကျင့်မူခြင်းနှင့်၊ ထိုအရှင်မြတ် ဖန်ဆင်းထားတော်မူသော အရာခပ်သိမ်းကန်တို့ အပေါ်ဝယ်၊ သနားကြင်နာခြင်းကို ဆိုလိုသည်။ ဤသည့်ဂုဏ်ရည် နှစ်ရပ်သည် သာသနာတိုင်းတွင် ပါရှိသည်သာ ဖြစ်သည်။ ကဗီရ်။

ဤအာယတ်တော်တွင် အလ္လာဟ်အရှင်မြတ်က 'ငါအရှင်မြတ်သည် ဂျင်န်နှင့် လူသားအား ဖန်ဆင်း ထားတော်မူခြင်းမှာ ငါ့အား အိဗာဒတ်ပြုကြရန်အတွက်သာ ဖြစ်သည်' ဟူ၍ ဂျင်န်နှင့် လူသားအား အိဗာဒတ်ပြုရန် အထူးတလည်တာဝန်ပေးထားတော်မူခြင်းမှာ အဖန်ဆင်းခံအပေါင်းတွင် ဂျင်န်နှင့်လူသား၌သာ အလ္လာဟ်အရှင်မြတ် သည် မိမိစေတနာအလျောက် ရွေးချယ်ပြုလုပ်နိုင်သည့် စွမ်းရည်သတ္တိကို ချီးမြှင့်ထားတော်မူသည်။ သို့ချီးမြှင့် ထားတော်မူသည့်အလျောက် ဂျင်န်နှင့် လူသားအား စမ်းသပ်တော်မူခြင်းကိုလည်း ပြုလုပ်တော်မူသည်။

ကောင်းကင်တမန်များတွင် စမ်းသပ်မှုမရှိ။

တိရစ္ဆာန်များတွင် မိမိစေတနာအလျောက် ရွေးချယ်ပြုလုပ်နိုင်သည့် စွမ်းရည်သတ္တိမရှိ။

ထို့အတွက်ကြောင့် အလ္လာဟ်အရှင်မြတ်သည် ဤအာယတ်တော်တွင် ဂျင်န်နှင့် လူသားအား အပြည့်အဝ တာဝန်ရှိသူများအဖြစ် ထုတ်ဖော်မိန့် ဆိုထားတော်မူခြင်းဖြစ်သည်။



إِنَّ اللَّهَ هُوَ الرَّزَّاقُ ذُو الْقُوَّةِ الْمَتِينُ ﴿٥٨﴾

၅၈။ ဧကန်မလွဲ အလ္လာဟ်အရှင်မြတ် ကိုယ်တော်တိုင်ပင် စားနပ်ရိက္ခာ ချီးမြှင့် ပေးသနားတော်မူသောအရှင်၊ စွမ်းအားကို ပိုင်ဆိုင်တော်မူသောအရှင်၊ ကြံ့ခိုင်တော်မူသောအရှင်၊ ဖြစ်တော်မူ၏။

فَإِنَّ لِلَّذِينَ ظَلَمُوا ذَنُوبًا مِّثْلَ ذَنُوبِ أَصْحَابِهِمْ فَلَا يَسْتَعْجِلُونِ ﴿٥٩﴾

၅၉။ သို့ဖြစ်ပေရာ မတရားမှုကို ကျူးလွန်ကြကုန်သောသူတို့၌ ၎င်းတို့နှင့် ဝါဒတူဖြစ်ခဲ့ကြသော သူတို့၌ ရှိခဲ့သော ပြစ်ဒဏ်၏ ဝေစုဝေပုံကဲ့သို့ ၎င်းတို့၌လည်း ပြစ်ဒဏ်၏ ဝေစုဝေပုံ ရှိချေမည်။ သို့ဖြစ်ပေရာ ၎င်းတို့သည် ငါအရှင်မြတ်အထံတော်တွင် (ပြစ်ဒဏ်)ကို အဆောတလျင် တောင်းဆိုခြင်း မပြုကြရ။

فَوَيْلٌ لِّلَّذِينَ كَفَرُوا مِن يَوْمِهِمُ الَّذِي يُوعَدُونَ ﴿٦٠﴾

၆၀။ အချုပ်မှာကား 'ကာဖိရ်' သွေဖည် ငြင်းပယ်သောသူတို့၌ ၎င်းတို့ ချိန်းဆိုခြင်းခံကြရသောနေ့တွင် ပျက်စီးခြင်းသည် ရှိချေအံ့သတည်း။

---

>> သို့ဖြစ်ရာ ဂျင်န်နှင့် လူသားများသည် မိမိတို့အား အလ္လာဟ်အရှင်မြတ် ဖန်ဆင်းထားတော်မူသည့် ရည်ရွယ်ချက်ကို အမြဲတစေ ရှေးရှုကြရပေမည်။ ဟုကူကုလ္လာဟ်နှင့် ဟုကူကုလ်အိဗာဒ်ကို ကျေပွန်စွာ ထမ်းဆောင်ကြရပေမည်။ ကြည့် - မာဂျိဒီ။

# တူရ်တောင်ကဏ္ဍ

# سُوْرَةُ الطُّوْرِ

ဤကဏ္ဍသည် 'တူရ်' တောင် ကဏ္ဍမည်၏။ မက္ကာမြို့တော်၌ ကျရောက်ခဲ့၏။
ဤကဏ္ဍတွင် အာယတ်တော် (၄၉) ပါး၊ ရကူအ်အပိုဒ် (၂) ပိုဒ် အသီးသီးပါရှိ၏။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ

အလွန်တရာ သနားကြင်နာ ညှာတာတော်မူသော၊ အထူး ကရုဏာတော်ပြုတော်မူသော၊ အလ္လာဟ်အရှင်မြတ်၏ နာမ်တော်ဖြင့် အစပြုပါ၏။

وَالطُّوْرِ ①

၁။ (ငါအရှင်မြတ်သည်)တောင်ကို-တူရ်တောင် [1] ကို သက်သေထူတော်မူ၏။

وَكِتٰبٍ مَّسْطُوْرٍ ②

၂။ ၎င်းပြင် (ငါအရှင်မြတ်သည်) ရေးသားပြီး *ဖြစ်သော (ဤ)ကျမ်းဂန် (မှတ်တမ်း)တော်ကို* [2] သက်သေထူတော်မူ၏။

فِيْ رَقٍّ مَّنْشُوْرٍ ③

၃။ ဖြန့်ထားသော စာရွက်ပေါ်၌၊

وَّالْبَيْتِ الْمَعْمُوْرِ ④

၄။ ၎င်းပြင် စည်ပင်သာယာသော အိမ်တော် *'ဗိုက်တိမအ်မူရ်'* [3] အိမ်တော်ကိုသက်သေထူတော်မူ၏။

---

(၁) 'တူရ်' ဟူသောပုဒ်၏ မူရင်းအနက်မှာ (Mountain)တောင်ဟူ၍ ဖြစ်သည်။ (Syriac)ရှုရီယပြည် ဘာသာစကားတွင်လည်း တောင်၏ အနက်၌ပင် ဖြစ်သည်။ ထို့အတွက်ကြောင့် ဤအာယတ်တော်တွင် ပါရှိသော 'တူရ်' ဟူသည် ကမ္ဘာပေါ်ရှိ တောင်များကို ဆိုလိုသည်ဟု အချို့က ဆိုကြသည်။

အချို့ပညာရှင်များကမူ ဤအာယတ်တော်တွင်ပါရှိသော 'တူရ်' ဟူသည် အလ္လာဟ်အရှင်မြတ် တမန်တော်မူစာနှင့် စကားပြောကြားတော်မူခဲ့သော သိနကျွန်းစွယ်ရှိ တူရ်မည်သော တောင်ကို ရည်ညွှန်းသည်ဟု ဆိုကြသည်။

(အဆိုပါတောင်၏ အကြောင်းကို ကုရ်အာန် (၂း၆၃။ ၂း၉၃။ ၄း၁၅၄။၁၉း၅၂။ ၂၀း၈၀။ ၂၃း၂၀။ ၂၈း၂၉။ ၂၈း၄၆။ ၅၂း၁။၉၅း၂)တွင်ပါရှိသည်။

(၂) ဤအာယတ်တော်တွင် 'ရေးသားထားသော စာအုပ်' ဟူသည် 'လောင်ဟ်မဟ်ဖူဇ်' မှတ်တမ်းတော်ကိုလည်း ဆိုနိုင်ပေသည်။ လူသားတို့၏ မှတ်တမ်းကိုလည်း ဆိုနိုင်ပေသည်။ ကုရ်အာန်ကျမ်းမြတ် ကိုလည်း ဆိုနိုင်ပေသည်။ 'တူရ်' တောင် အကြောင်းနှင့် ဆက်စပ်လျက်ရှိသည်ကိုအကြောင်းပြု၍ တောင်ရာတ်ကျမ်းကိုလည်း ဆိုနိုင်ပေသည်။ ကောင်းကင်ကျကျမ်းဂန်များကိုလည်း ဆိုနိုင်ပေသည်။

وَالسَّقْفِ الْمَرْفُوعِ ۝٥

၅။ ထို့ပြင် (ငါအရှင်မြတ်သည်) မြင့်စွင့်သော အမိုးကို သက်သေထူတော်မူ၏။

وَالْبَحْرِ الْمَسْجُورِ ۝٦

၆။ ထို့ပြင် (ငါအရှင်မြတ်သည်) လျှံတက်လျက်ရှိသော သမုဒ္ဒရာပင်လယ်ကို သက်သေထူတော်မူ၏။

إِنَّ عَذَابَ رَبِّكَ لَوَاقِعٌ ۝٧

၇။ ဧကန်မလွဲ အသင့်အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၏အပြစ်ဒဏ်သည် အမှန်ပင် ကျရောက်မည်ဖြစ်၏။

مَا لَهُ مِن دَافِعٍ ۝٨

၈။ ယင်းပြစ်ဒဏ်ကို ပယ်ရှားအံ့သော သူဟူ၍ အလျှင်း မရှိပြီ။

يَوْمَ تَمُورُ السَّمَاءُ مَوْرًا ۝٩

၉။ (ယင်းပြစ်ဒဏ်သည်) အကြင်နေ့တွင် (ကျရောက်ပေမည်)၊ ထိုနေ့တွင် မိုးကောင်းကင်မှာ တုန်လှုပ်အက်ကွဲ၍ သွားပေမည်။

وَتَسِيرُ الْجِبَالُ سَيْرًا ۝١٠

၁၀။ ၎င်းပြင် တောင်များသည် ရွေ့လျား၍သွားကြပေမည်။

فَوَيْلٌ يَوْمَئِذٍ لِّلْمُكَذِّبِينَ ۝١١

၁၁။ သို့ဖြစ်ပေရာ ထိုနေ့တွင် မဟုတ်မမှန်ဟူ၍ စွပ်စွဲ ငြင်းပယ်ကြကုန်သောသူတို့၌ ပျက်စီးခြင်းသည် ရှိချေမည်။

الَّذِينَ هُمْ فِي خَوْضٍ يَلْعَبُونَ ۝١٢

၁၂။ အကြင်သူတို့သည် အချည်းနှီးသော ပြောဆိုမှု၌ မွေ့လျော်လျက် ရှိကြကုန်၏။

---

(၉) ဤအာယတ်တော်တွင် 'စည်ပင်သာယာသော အိမ်တော်' ဟူသည် 'ကအ်ဗဟ်' ကျောင်းတော်ကိုလည်း ဆိုနိုင်ပေသည်။ သို့တည်းမဟုတ်၊ ကအ်ဗဟ်ကျောင်းတော်၏ အထက်တည့်တည့် သတ္တမ မိုးကောင်းကင်၌ တည်ရှိသော ကောင်းကင်တမန်များ၏ ကအ်ဗဟ်ဖြစ်သော 'ဗိုက်တ်မအ်မူရ်' ကိုလည်း ဆိုနိုင်ပေသည်။ 'ဗိုက်တ်မအ်မူရ်' အကြောင်း ဟဒီးဆ်သြဝါဒတော်များတွင် အများအပြား တွေ့ရှိရစေသည်။

یَوۡمَ یُدَعُّوۡنَ اِلٰی نَارِ جَهَنَّمَ دَعًّا ﴿۱۳﴾

၁၃။ အကြင်နေ့တွင် ၎င်းတို့သည် 'ဂျဟန္နမ်' ငရဲ၏ မီးရှိရာသို့ တွန်းပို့ခြင်းကို ခံကြရပေမည်။

هٰذِهِ النَّارُ الَّتِیۡ کُنۡتُمۡ بِهَا تُکَذِّبُوۡنَ ﴿۱۴﴾

၁၄။ ဤသည်ပင် မဟုတ်မမှန်ဟူ၍ အသင်တို့ ငြင်းပယ်လျက်ရှိခဲ့ကြသော ငရဲမီးပင် ဖြစ်၏။

اَفَسِحۡرٌ هٰذَاۤ اَمۡ اَنۡتُمۡ لَا تُبۡصِرُوۡنَ ﴿۱۵﴾

၁၅။ သို့ဖြစ်ပေရာ ဤသည် စုန်းပယောဂ ဖြစ်လေသလော၊ သို့တည်းမဟုတ် အသင်တို့သည် (ယခုတိုင်) မမြင်ကြလေသလော။

اِصۡلَوۡهَا فَاصۡبِرُوۡۤا اَوۡ لَا تَصۡبِرُوۡا ۚ سَوَآءٌ عَلَیۡکُمۡ ؕ اِنَّمَا تُجۡزَوۡنَ مَا کُنۡتُمۡ تَعۡمَلُوۡنَ ﴿۱۶﴾

၁၆။ အသင်တို့သည် ယင်းငရဲမီးထဲသို့ ဝင်ရောက်ကြလေကုန်။ ထို့နောက် အသင်တို့သည် သည်းခံကြသည်ဖြစ်စေ၊ သည်းမခံကြသည်ဖြစ်စေ၊ အသင်တို့အဖို့ အကြောင်းမထူးပြီ။ အသင်တို့သည် မိမိတို့ကျင့်မူခဲ့ကြသော အမှုကိစ္စများနှင့်စပ်လျဉ်း၍ အစားပေးခြင်းကို ခံကြရသည်သာတည်း။

اِنَّ الۡمُتَّقِیۡنَ فِیۡ جَنّٰتٍ وَّ نَعِیۡمٍ ﴿۱۷﴾

၁၇။ ဧကန်မလွဲ 'မွတ္တကီ' သူတော်စင်တို့မှာကား ဥယျာဉ်များ၌လည်းကောင်း၊ အံ့မခန်းသုခ၌လည်းကောင်း၊ ရှိကြပေမည်။

فٰکِهِیۡنَ بِمَاۤ اٰتٰهُمۡ رَبُّهُمۡ ۚ وَ وَقٰهُمۡ رَبُّهُمۡ عَذَابَ الۡجَحِیۡمِ ﴿۱۸﴾

၁၈။ ၎င်းတို့သည် ၎င်းတို့ကို ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်က ၎င်းတို့အား ချီးမြှင့်ပေးသနားတော်မူခဲ့သော သစ်သီးဝလံများကို စားသုံးလျက်ရှိကြပေမည်။ (တစ်နည်း:) [ချီးမြှင့်ပေးသနားတော်မူခဲ့သော စည်းစိမ်များကြောင့် ဝမ်းမြောက်ပျော်ရွှင်လျက်ရှိကြပေမည်။]

ထိုမှတစ်ပါး ၎င်းတို့ကို ၎င်းတို့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်သည် အလျှံပြောင်ပြောင်တောက်လောင်လျက်ရှိသော ငရဲမီး ပြစ်ဒဏ်မှလည်း လွတ်ကင်းစေတော်မူပေမည်။

كُلُوا وَاشْرَبُوا هَنِيٓـًٔا بِمَا كُنْتُمْ تَعْمَلُونَ ⑲

၁၉။ (ထိုမှတစ်ပါး ၎င်းတို့သည် ဤသို့ မိန့်ကြားတော်မူခြင်းကို ခံကြရပေမည်)။ အသင်တို့သည် မိမိတို့ ကျင့်မူလျက် ရှိခဲ့ကြလေသော ကောင်းမှုတို့၏အစားအရသာခံစားကြလျက် (မြိန်ရှက်စွာ) စားသောက်ကြလေကုန်။

مُتَّكِـِٔيْنَ عَلٰى سُرُرٍ مَّصْفُوْفَةٍ ۚ وَزَوَّجْنٰهُمْ بِحُوْرٍ عِيْنٍ ⑳

၂၀။ (၎င်းတို့သည်) စနစ်တကျ ခင်းကျင်း၍ထားရှိသော သလွန်များထက်ဝယ် မှီအုံးများ မှီလျက်ရှိကြပေမည်။ ထိုမှတစ်ပါး ငါအရှင်မြတ်သည် ၎င်းတို့အား လွန်စွာဖြူ၍ လှပတင့်တယ်သော၊ မျက်စိလှပသော မိန်းမများနှင့် ထိမ်းမြား၍ ပေးတော်မူအံ့သတည်း။

وَالَّذِيْنَ اٰمَنُوْا وَاتَّبَعَتْهُمْ ذُرِّيَّتُهُمْ بِاِيْمَانٍ اَلْحَقْنَا بِهِمْ ذُرِّيَّتَهُمْ وَمَآ اَلَتْنٰهُمْ مِّنْ عَمَلِهِمْ مِّنْ شَيْءٍ ۚ كُلُّ امْرِئٍۢ بِمَا كَسَبَ رَهِيْنٌ ㉑

၂၁။ ထိုမှတစ်ပါး အကြင်သူတို့သည် သက်ဝင်ယုံကြည်ခဲ့ကြကုန်၏။ ထို့ပြင် ၎င်းတို့၏သားမြေးတို့သည်လည်း 'အီမာန်' သက်ဝင်ယုံကြည်မှုနှင့်တကွ ၎င်းတို့၏နောက်သို့ လိုက်ခဲ့ကြကုန်၏။ ငါအရှင်မြတ်သည် ၎င်းတို့၏သားမြေးတို့အား ၎င်းတို့နှင့်အတူ ပူးပေါင်းထားတော်မူပေမည်။ ထို့ပြင် ငါအရှင်မြတ်သည် ၎င်းတို့၏ ကျင့်မူဆောင်ရွက်ချက်တို့ အနက်မှလည်း မည်သည့် တစ်စုံတစ်ရာကိုမျှ *လျော့နည်းစေတော်မူမည် မဟုတ်ပြီ။* [၁] လူတိုင်းမှာ မိမိရှာဖွေဆည်းပူးမှု၌ ပေါင်နှံ ချုပ်နှောင်ထားပြီး ဖြစ်၏။ [၂]

---

(၁) **မိဘ၏ဂုဏ်ကျေးဇူး။**

ဆိုလိုသည်ကား - မွတ္တကီ သူတော်စဉ်များ၏ သားသမီး၊ တပည့်သားများသည် အီမာန်သက်ဝင်ယုံကြည်၍ အဆိုပါ သူတော်စင်များ၏ လမ်းစဉ်ကို လိုက်နာကြပါက၊ အလ္လာဟ်အရှင်မြတ်သည် မိမိ၏ကျေးဇူးတော်ဖြင့် အဆိုပါ သားသမီး တပည့်သားများကိုလည်း တကယ်တမ္ဘ ၎င်းတို့၏အကျင့်သီလများသည် မိဘတို့၏အကျင့်သီလများထက် နိမ့်ကျ၍နေလင့်ကစား၊ ၎င်းတို့၏ မိဘများနှင့်အတူတူ ဂျန္နတ်တွင် စံစားခွင့်ပြုတော်မူပေမည်။ ဤသည် မိဘများ၏ ဂုဏ်ကျေးဇူးကြောင့် သားသမီးများအား မြှောက်စားတော်မူခြင်းပင်။

အလ္လာဟ်အရှင်မြတ်သည် သားသမီးများအား မိဘများနှင့် အတူတူ ခံစားခွင့်ပြုတော်မူရာတွင် မိဘများ၏ အကျင့်သီလ၊ ကုသိုလ် အကျိုးကို စိုးစဉ်းမျှ လျော့နည်းစေတော်မူမည်မဟုတ်၊ မြင့်သူကို ➢➢

وَاَمۡدَدۡنٰهُمۡ بِفَاكِهَةٍ وَّلَحۡمٍ مِّمَّا يَشۡتَهُوۡنَ ﴿٢٢﴾

၂၂။ ထိုမှတစ်ပါး ငါအရှင်မြတ်သည် ထိုသူတို့အား ထိုသူတို့ အလိုဆန္ဒရှိကြလေသော အမျိုးအစားမှ သစ်သီးဝလံများကိုလည်းကောင်း၊ အသားများကိုလည်း ကောင်း၊ အစဉ်မပြတ် တိုး၍ပေးသနားတော်မူပေမည်။

يَتَنَازَعُوۡنَ فِيۡهَا كَاۡسًا لَّا لَغۡوٌ فِيۡهَا وَلَا تَاۡثِيۡمٌ ﴿٢٣﴾

၂၃။ ၎င်းတို့မှာ ယင်း 'ဂျန္နတ်' သုခဘုံ၌ အရက် အပြည့်ရှိသော ခွက်များကို လုယက်ယူငင်ကြပေမည်။ ယင်းအရက်(ကို သောက်သုံးခြင်း)၌ အချည်းနှီးသော စကားပြောဆိုမှု ရှိလိမ့်မည်မဟုတ်ပေ။ အပြစ်ဖြစ်ရန် အကြောင်းလည်း ရှိချိမ့်မည် မဟုတ်ပေ။

وَيَطُوۡفُ عَلَيۡهِمۡ غِلۡمَانٌ لَّهُمۡ كَاَنَّهُمۡ لُؤۡلُؤٌ مَّكۡنُوۡنٌ ﴿٢٤﴾

၂၄။ ထိုမှတစ်ပါး ၎င်းတို့ထံ ၎င်းတို့ ပိုင်ဆိုင်ကြကုန်သော လုလင်တို့သည် (ထိုမှ-ဤမှ) လှည့်ပတ် သွား လာလျက် ရှိကြပေမည်။ ထို ကံကျေးလုလင်တို့မှာ လုံခြုံစွာထားရှိသော ပုလဲများကဲ့သို့ပင် ရှိကြပေမည်။

وَاَقۡبَلَ بَعۡضُهُمۡ عَلٰى بَعۡضٍ يَّتَسَآءَلُوۡنَ ﴿٢٥﴾

၂၅။ ထို့ပြင် ၎င်းတို့အနက် တစ်ဦးသည်တစ်ဦး၏ ဘက်သို့လှည့်ကာ အချင်းချင်းစုံစမ်းမေးမြန်းကြပေမည်။

قَالُوۡۤا اِنَّا كُنَّا قَبۡلُ فِيۡۤ اَهۡلِنَا مُشۡفِقِيۡنَ ﴿٢٦﴾

၂၆။ ၎င်းတို့သည် (ဤသို့) ပြောဆိုကြပေမည်။ ဧကန်စင်စစ် ကျွန်ုပ်တို့သည် ယခင်က မိမိတို့အိမ်သူ အိမ်သားတို့နှင့်ရှိနေစဉ် ကြောက်ရွံ့စိုးရိမ်လျက် ရှိခဲ့ ကြကုန်၏။

---

➤➤ နိမ့်စေတော်မူမည်မဟုတ်။ နိမ့်သူကို မြှင့်၍ မြင့်သူနှင့်အတူတူ ထားရှိတော်မူပေမည်။ ဤသည် မိဘ၏ ဂုဏ်ကျေးဇူးပင်၊ အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်ပင်။

(၂) အထက်တွင် အလ္လာဟ်အရှင်မြတ် ကျေးဇူးပြုတော်မူသည့် အကြောင်းပါရှိ၏။ ဤအာယတ်တော်တွင် ထိုအရှင်မြတ်၏ တရားမျှတမှု အကြောင်းပါရှိ၏။ ဆိုလိုသည်ကား လူတိုင်းသည် မိမိ ဆိုးကောင်း ဆည်းပူးသည် နှင့်အမျှ ခံစံရသည်သာဖြစ်သည်။ မည်သူမျှ အခြားသူ၏ ဒဏ်ကို မျှခံရမည်မဟုတ်ပေ။ လူတိုင်းသည် မိမိ၏ ကောင်းကျိုးကို မိမိစံရမည်ပင်။ မိမိ၏ ဆိုးကျိုးကို မိမိခံရမည်ပင်။ ဤကား တရားမျှတမှုပင်။

သို့ရာတွင် အလ္လာဟ်အရှင်မြတ်သည် မိမိ၏ကျေးဇူးတော်ဖြင့် တစ်ဦး တစ်ယောက်အား ခွင့်လွှတ်တော် မူပါက၊ သို့တည်းမဟုတ်၊ တစ်ဦးတစ်ယောက်အား ထိုက်တန်သည်ထက်ပိုမို၍ ချီးမြှင့်တော်မူပါက၊ ထိုအရှင်မြတ်၏ ကျေးဇူးတော်ပင်။ ထိုက်တန်သည်ထက်ပိုမို၍ ချီးမြှင့် တော်မူသည်ကို အဘယ်သူက မတရားဟုဆိုအံ့နည်း။

فَمَنَّ اللّٰهُ عَلَيْنَا وَوَقٰىنَا عَذَابَ السَّمُوْمِ ﴿٢٧﴾

၂၇။ သို့ရာတွင် အလ္လာဟ်အရှင်မြတ်သည် ကျွန်ုပ်တို့အပေါ်၌ ကျေးဇူးပြုတော်မူခဲ့၏။ ၎င်းပြင် ထိုအရှင်မြတ်သည် ကျွန်ုပ်တို့အား အပူအရှိန် ပြင်းလှစွာသော 'ဂျဟန္နမ်' ငရဲ၏ပြစ်ဒဏ်မှလည်း ကင်းလွတ်စေတော်မူခဲ့၏။

اِنَّا كُنَّا مِنْ قَبْلُ نَدْعُوْهُ ۗ اِنَّهٗ هُوَ الْبَرُّ الرَّحِيْمُ ﴿٢٨﴾

၂၈။ ကေန်အမှန် ကျွန်ုပ်တို့သည် ရှေးအထက်ကျော်ကာလ၌ ထိုအရှင်မြတ်အထံတော်တွင် ဆုတောင်းလျက်ရှိခဲ့ကြကုန်၏။ ကေန်မလွဲ ထိုအရှင်မြတ်မှာကား လွန်စွာကျေးဇူးပြုတော်မူသောအရှင်၊ လွန်စွာ သနားကြင်နာတော်မူသောအရှင် ဖြစ်တော်မူပေသတည်း။

فَذَكِّرْ فَمَآ اَنْتَ بِنِعْمَتِ رَبِّكَ بِكَاهِنٍ وَّلَا مَجْنُوْنٍ ﴿٢٩﴾

၂၉။ သို့ဖြစ်ပေရာ (အို-နဗီတမန်တော်၊) အသင်သည် သတိပေးဆုံးမလျက် ရှိပါလေ။ စင်စစ်သော်ကား အသင်သည် အသင့်အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၏ ကျေးဇူးတော်အားဖြင့် အနာဂတ်ဟော ဆရာလည်း မဟုတ်ပေ၊ ရူးသွပ်သူလည်း မဟုတ်ပေ။

اَمْ يَقُوْلُوْنَ شَاعِرٌ نَّتَرَبَّصُ بِهٖ رَيْبَ الْمَنُوْنِ ﴿٣٠﴾

၃၀။ သို့တည်းမဟုတ် ၎င်းတို့က (ဣမုဟမ္မဒ်) (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် ကဗျာဆရာဖြစ်သည်။ ကျွန်ုပ်တို့သည် ၎င်းနှင့်ပတ်သက်၍ ကံအားလျော်စွာ ဆိုက်ရောက်လာအံ့သော ခေတ်ကာလ၏ဘေးအန္တရာယ်ကို ဆိုက်ရောက်လာအံ့သော သေဘေးကိုစောင့်ဆိုင်း၍နေကြသည်ဟု ပြောဆိုကြလေသလော။

قُلْ تَرَبَّصُوْا فَاِنِّيْ مَعَكُمْ مِّنَ الْمُتَرَبِّصِيْنَ ﴿٣١﴾

၃၁။ (အို-နဗီတမန်တော်၊) အသင်သည် ပြောကြားပါလေ။ (အချင်းတို့၊) အသင်တို့သည် စောင့်ဆိုင်း၍နေကြလေကုန်။ သို့ဖြစ်လျှင် ကေန်အမှန် ငါသည်လည်း အသင်တို့နှင့်အတူ စောင့်ဆိုင်းသူတို့တွင် အပါအဝင်ဖြစ်၏။

၃၂။ သို့တည်းမဟုတ် ၎င်းတို့၏ အသိဉာဏ်များက ဤသည်နှင့်စပ်လျဉ်း၍ ၎င်းတို့အား အမိန့်ပေးလေသလော။ သို့တည်းမဟုတ် ၎င်းတို့ကိုယ်တိုင်ပင် ဆိုးသွမ်းသူများ ဖြစ်ကြလေသလော။

أَمْ تَأْمُرُهُمْ أَحْلَامُهُم بِهَٰذَا ۚ
أَمْ هُمْ قَوْمٌ طَاغُونَ ﴿٣٢﴾

၃၃။ သို့တည်းမဟုတ် ၎င်းတို့က ထိုသူ(တမန်တော်မြတ်)သည် ဤ(ကုရ်အာန်ကျမ်းတော်မြတ်)ကို ကြံစည်ဖန်တီးခဲ့သည်ဟု ပြောဆိုကြလေသလော။ ထိုသို့အလျှင်း မဟုတ်၊ စင်စစ်မှာကား ၎င်းတို့ ကိုယ်တိုင် သက်ဝင်ယုံကြည်ခြင်း မရှိကြပေ။

أَمْ يَقُولُونَ تَقَوَّلَهُ ۚ بَل
لَّا يُؤْمِنُونَ ﴿٣٣﴾

၃၄။ သို့ဖြစ်လျှင် အကယ်၍ ၎င်းတို့သည် သစ္စာဝါဒီများဖြစ်ကြလျှင် ယင်း(ကုရ်အာန်ကျမ်းမြတ်)ကဲ့သို့သော အာယတ်တော် တစ်စုံတစ်ရာကို ၎င်းတို့ ယူဆောင်၍ လာကြရပေမည်။

فَلْيَأْتُوا بِحَدِيثٍ مِّثْلِهِ إِن
كَانُوا صَادِقِينَ ﴿٣٤﴾

၃၅။ သို့တည်းမဟုတ် ၎င်းတို့သည် (ဖန်ဆင်းသူ) တစ်စုံတစ်ယောက်မျှ မရှိဘဲ ဖန်ဆင်းခြင်း ခံခဲ့ကြရလေသလော။ သို့တည်းမဟုတ် ၎င်းတို့ကိုယ်တိုင် (မိမိတို့ကိုယ်ကို) ဖန်ဆင်းသူများ ဖြစ်လေသလော။

أَمْ خُلِقُوا مِنْ غَيْرِ شَيْءٍ
أَمْ هُمُ الْخَالِقُونَ ﴿٣٥﴾

၃၆။ သို့တည်းမဟုတ် ထိုသူတို့သည် မိုးကောင်းကင်များနှင့်ပထဝီမြေကို ဖန်ဆင်းခဲ့ကြလေသလော။ စင်စစ်မှာကား ၎င်းတို့သည် ယုံကြည်ကြသည် မဟုတ်ပေ။

أَمْ خَلَقُوا السَّمَاوَاتِ وَالْأَرْضَ ۚ
بَل لَّا يُوقِنُونَ ﴿٣٦﴾

၃၇။ သို့တည်းမဟုတ် ၎င်းတို့ထံ အသင့်အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၏ ဘဏ္ဍာတော်များ ရှိလေသလော။ သို့တည်းမဟုတ် ၎င်းတို့သည် ကွပ်ကဲ အုပ်ချုပ်သူများပင် ဖြစ်ကြလေသလော။

أَمْ عِندَهُمْ خَزَائِنُ رَبِّكَ
أَمْ هُمُ الْمُصَيْطِرُونَ ﴿٣٧﴾

أَمْ لَهُمْ سُلَّمٌ يَسْتَمِعُونَ فِيهِ ۖ فَلْيَأْتِ مُسْتَمِعُهُم بِسُلْطَانٍ مُّبِينٍ ﴿٣٨﴾

၃၈။ သို့တည်းမဟုတ် ၎င်းတို့၌ လှေကား တစ်စုံတစ်ခုရှိနေ၍ ၎င်းတို့သည် ထိုလှေကားဖြင့် (မိုးကောင်းကင်မှ စကားများကို) နားထောင်ကြလေသလော။ သို့ဖြစ်လျှင် ၎င်းတို့အနက်မှ နားထောင်သောသူသည် ထင်ရှားစွာသော သက်သေသာဓကကို ဆောင်ယူခဲ့ရပေမည်။

أَمْ لَهُ الْبَنَاتُ وَلَكُمُ الْبَنُونَ ﴿٣٩﴾

၃၉။ သို့တည်းမဟုတ် ထိုအရှင်မြတ်၌ သမီး မိန်းကလေးများ ရှိကြပြီး၊ ၎င်းတို့၌မူ သားယောကျ်ားကလေးများ ရှိကြလေသလော။

أَمْ تَسْأَلُهُمْ أَجْرًا فَهُم مِّن مَّغْرَمٍ مُّثْقَلُونَ ﴿٤٠﴾

၄၀။ သို့တည်းမဟုတ် အသင်သည် ၎င်းတို့ထံ အခကြေးငွေတစ်စုံတစ်ရာကို တောင်းဆိုသောကြောင့် ၎င်းတို့သည် ကြွေးမြီပေးဆပ်ရန် တာဝန်၌ပိလျက် ရှိနေကြလေသလော။

أَمْ عِندَهُمُ الْغَيْبُ فَهُمْ يَكْتُبُونَ ﴿٤١﴾

၄၁။ သို့တည်းမဟုတ် ၎င်းတို့ထံတွင် အကွယ်၌ရှိသည်တို့ကို (သိစွမ်းနိုင်သော အသိပညာရှိသောကြောင့်) ၎င်းတို့သည် ရေးမှတ်ထားကြလေသလော။

أَمْ يُرِيدُونَ كَيْدًا ۖ فَالَّذِينَ كَفَرُوا هُمُ الْمَكِيدُونَ ﴿٤٢﴾

၄၂။ သို့တည်းမဟုတ် ၎င်းတို့သည် တစ်စုံတစ်ရာ မကောင်း ကြံစည်ရန် ရည်ရွယ်ကြလေသလော။ သို့ဖြစ်လျှင် 'ကာဖိရ်' သွေဖည် ငြင်းပယ်ကြကုန်သော သူတို့သည်ပင်လျှင် မကောင်းသော အကြံအစည်၌ မိနေကြကုန်၏။ [1]

---

(၁) ဆိုလိုသည်ကား - ကာဖိရ်များ ယင်းသို့ ဆိုးသွမ်းမိုက်မဲနေကြခြင်းမှာ ၎င်းတို့သည် မိမိတို့ကိုယ်တိုင် မိုးမြေများကို ဖန်ဆင်းထားကြလေသလော။ ဤသို့လည်း မဟုတ်။ ၎င်းတို့သည် အလ္လာဟ်အရှင်မြတ်၏ ဘဏ္ဍာတော်များကို ပိုင်ဆိုင်၍ ကွပ်ကဲအုပ်ချုပ်နေကြသလော။ ဤသို့လည်းမဟုတ်။ ၎င်းတို့သည် မိုးကောင်းကင်သို့ လှေကားထောင်၍ တက်ရောက်ပြီး၊ အထက်ကမ္ဘာ၏ စကားများ နားထောင်ကြလေသလော။ ဤသို့လည်းမဟုတ်။ ၎င်းတို့၌ ၎င်းတို့ နှစ်ခြိုက်သော သားယောကျ်ားကလေးများရှိပြီး၊ အလ္လာဟ်အရှင်မြတ်၌ ၎င်းတို့ မနှစ်ခြိုက်သော သမီးမိန်းကလေးများ ရှိသည်ဟူ၍ ၎င်းတို့ ထင်မှတ်နေကြသလော။ ဤသို့လည်းမဟုတ်။ ➤➤

أَمْ لَهُمْ إِلَٰهٌ غَيْرُ اللَّهِ ۚ سُبْحَانَ اللَّهِ عَمَّا يُشْرِكُونَ ﴿٤٣﴾

၄၃။ သို့တည်းမဟုတ် ၎င်းတို့၌ အလ္လာဟ်အရှင်မြတ်
အပြင် ကိုးကွယ်ရာအရှင်မြတ်တစ်ပါးပါးရှိလေသလော။
အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့ တွဲဖက် ကိုးကွယ်ကြ
သည်တို့မှ လုံးဝစင်ကြယ် သန့်ရှင်းတော်မူပေသတည်း။

وَإِن يَرَوْا كِسْفًا مِّنَ السَّمَاءِ سَاقِطًا يَقُولُوا سَحَابٌ مَّرْكُومٌ ﴿٤٤﴾

၄၄။ စင်စစ်သော်ကား အကယ်၍သာ ၎င်းတို့သည်
မိုးကောင်းကင်၏ အစိတ်အပိုင်းတစ်ခုခု ကျလာသည်
ကိုတွေ့မြင်ကြသည် ရှိအံ့ငြားလည်း (ဤသည်)အထပ်
ထပ် ထပ်ဆင့်ထားသောမိုးတိမ်သာလျှင် ဖြစ်သည်
ဟု ဆိုကြဦးပေမည်။

فَذَرْهُمْ حَتَّىٰ يُلَاقُوا يَوْمَهُمُ الَّذِي فِيهِ يُصْعَقُونَ ﴿٤٥﴾

၄၅။ သို့ဖြစ်ပေရာ (အို-နဗီတမန်တော်) အသင်သည်
၎င်းတို့အား ၎င်းတို့၏အကြင်နေ့နှင့် တွေ့ကြုံကြရ
သည်အထိ စွန့်လွှတ်၍ ထားရှိပါလေ၊ ထိုနေ့တွင်
၎င်းတို့သေဆုံးကြပေမည်။

يَوْمَ لَا يُغْنِي عَنْهُمْ كَيْدُهُمْ شَيْئًا وَلَا هُمْ يُنصَرُونَ ﴿٤٦﴾

၄၆။ အကြင်နေ့တွင် ၎င်းတို့အဖို့ ၎င်းတို့၏အကြံ
အစည်သည် လုံးဝအသုံးမဝင်မည့်အပြင် ၎င်းတို့သည်
ကူညီစောင်မခြင်းကိုလည်း ခံကြရမည်မဟုတ်ပေ။ ၁

➤➤ တမန်တော်မြတ်သည် ၎င်းတို့ထံမှ တစ်စုံတစ်ရာ အဖိုးအခ တောင်းဆိုသဖြင့် ၎င်းတို့သည် ကြွေးမြီ ပေးဆပ်ရန် တာဝန်လေးနေကြသလော။ ဤသို့လည်းမဟုတ်။ ၎င်းတို့သည် အကွယ်၌ ရှိသည်တို့ကို သိစွမ်းနိုင်သော အသိပညာ တစ်စုံတစ်ရာ ရှိသဖြင့်၊ ရေးမှတ်ထားကြလေသလော။ ဤသို့လည်း မဟုတ်။

အထက်ပါ စကားရပ်များအနက် မည်သည့်စကားရပ်မျှ မဟုတ်ပေရာ၊ ၎င်းတို့သည် တမန်တော်မြတ်အား လုပ်ကြံသတ်ဖြတ်ရန် ကြံစည် နေကြလေသလော။ သို့ကြံစည်အားထုတ်ကြပါက ၎င်းတို့သည်ပင် ကိုယ့်ရှူး ကိုယ်ပတ် ဆိုသကဲ့သို့ ကိုယ့်တွင်းကိုယ်တူး၊ ကိုယ့်ဒုက္ခ ကိုယ်ရှာရာ ရောက်ကြပေမည်။ ၎င်းတို့၌ အလ္လာဟ်အရှင်မြတ်အပြင် အခြားကိုးကွယ်ရာ ရှိနေသလော။ ဤသို့လည်းမဟုတ။ အမှန်မှာ ၎င်းတို့၌ ဆိုးသွမ်းမိုက်မဲနေကြရန် တစ်စုံတစ်ရာ အကြောင်းမရှိပါဘဲလျက်၊ ယင်းသို့ ဆိုးသွမ်းမိုက်မဲနေကြခြင်းမှာ တမင် ဆိုးသွမ်းလို၍ ဆိုးသွမ်းနေခြင်းသာဖြစ်သည်။ ဆိုးသွမ်းမိုက်မဲမှုသည် ၎င်းတို့၏ အသားထဲ၊ အသွေးထဲ၊ အရိုးခြင်ဆီထဲ အစွဲကြီးစွဲလျက် ရှိချေပြီ။ ယင်းသို့သော သူမိုက်တို့အား မည်သို့မည်ပုံ အရေးယူ ကွပ်မျက်တော်မူမည့်အကြောင်း ရှေ့အာယတ်တော်များတွင် မိန့်ဆိုထားတော်မူသည်။

၁ ဆိုလိုသည်ကား- ကာဖိရ်များ ယင်းသို့ဆိုးသွမ်း မိုက်မဲနေကြခြင်းမှာ အခြားအကြောင်းကြောင့် မဟုတ်၊ ➤➤

وَاِنَّ لِلَّذِيۡنَ ظَلَمُوۡا عَذَابًا دُوۡنَ ذٰلِكَ وَلٰـكِنَّ اَكۡثَرَهُمۡ لَا يَعۡلَمُوۡنَ ﴿۴۷﴾

၄၇။ ထိုမှတစ်ပါး မတရားမှုကို ကျူးလွန်ခဲ့ကြသော သူတို့၌ ယင်းသည့်အလျင်လည်း ပြစ်ဒဏ်(ကျရောက်မည်ဖြစ်၏၊) သို့ရာတွင် ၎င်းတို့အနက် အများစုသော သူတို့မှာ သိရှိကြသည်မဟုတ်ပေ။

وَاصۡبِرۡ لِحُكۡمِ رَبِّكَ فَاِنَّكَ بِاَعۡيُنِنَا وَسَبِّحۡ بِحَمۡدِ رَبِّكَ حِيۡنَ تَقُوۡمُ ﴿۴۸﴾

၄၈။ (သို့ဖြစ်ပေရာ) အသင်သည် အသင့်အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၏ အမိန့်တော်ကို သည်းခံ၍စောင့်ဆိုင်းပါလေ။ အကြောင်းသော်ကား အသင်သည် ငါအရှင်မြတ်၏ ကြည့်ရှုစောင့်ရှောက်မှု အောက်တွင် ရှိနေသောကြောင့်ပင်။ ထိုမှတစ်ပါး အသင်သည် (ထိုင်ရာမှပြန်)ထသောအခါ အသင့်အား မွေးမြူဖန်ဆင်းတော်မူသော အရှင်မြတ်အား ချီးမွမ်းထောပနာပြုခြင်းနှင့်တကွ (ထိုအရှင်မြတ်) စင်ကြယ်သန့်ရှင်းတော်မူကြောင်း မြွက်ဆိုပါလေ။

وَمِنَ الَّيۡلِ فَسَبِّحۡهُ وَاِدۡبَارَ النُّجُوۡمِ ﴿۴۹﴾

၄၉။ ထိုမှတစ်ပါး အသင်သည် ညဥ့်၌လည်းကောင်း၊ ကြယ်များ (ကွယ်ပျောက်သွားသည့်) နောက်ပိုင်းတွင် လည်းကောင်း၊ ထိုအရှင်မြတ် စင်ကြယ်သန့်ရှင်းတော်မူကြောင်း မြွက်ဆိုပါလေ။

---

➤➤ ဇွတ်တရွတ် ပြုလိုမှု၊ မလိုမုန်းတီးမှုကြောင့်ပင် ဖြစ်သည်။ ထိုသည့် ဇွတ်တရွတ်ပြုလိုမှု၊ မလိုမုန်းတီးမှုကြောင့်ပင် ၎င်းတို့သည် အမှန်တရားမှန်သမျှကို ဇွတ်မှိတ်၍ သွေဖည် ဆန့်ကျင်နေခဲ့ကြပေသည်။ ကာဖိရ်များသည် အဘယ်မျှ ဆိုးသွမ်း မိုက်မဲနေခဲ့ကြသည်ဆိုသော်၊ အကယ်တန္တိ ၎င်းတို့ တောင်းဆိုချက်အရ၊ ၎င်းတို့အား ကွပ်မျက်ရန်၊ ၎င်းတို့ထံ မိုးကောင်းကင်၏ အစိတ်အပိုင်းတစ်ခုကို ပို့လိုက်သော် (ကြည့်-ကုရ်အာန် ၁၇း၉၂။ ၂၆း၁၈၇) ၎င်းတို့သည် မိမိတို့ထံ စိုက်စိုက်လာနေသော ထိုအစိတ်အပိုင်းကို မျက်ဝါးထင်ထင် တွေ့မြင်နေကြရသော်၊ ထိုသည့်အခြေအနေမျိုးမှာပင်၊ ထိုသည့်အစိတ်အပိုင်းကိုပင် 'ဤသည် ထပ်ဆင့်လျက်ရှိသော မိုးတိမ်သာ ဖြစ်သည်' ဟူ၍ပင် မိုက်မဲစွာ ပြောဆိုကြပေဦးမည်။

ဤရွေ့ဤမျှ ဇွတ်တရွတ်နိုင်လှသော၊ ကမ်းကုန်အောင် ဖောက်ပြန်နေသော သူမိုက်များသည် အမှန်တရားကို အသို့လျှင် လက်ခံကြတော့မည်နည်း။ ၎င်းတို့အဖို့ တရားရရန် မျှော်လင့်ချက် အဘယ်မှာလျှင် ရှိနိုင်တော့အံ့နည်း။ သို့ဖြစ်ရာ တမန်တော်မြတ်သည် ထိုရွေ့ထိုမျှ ဆိုးသွမ်း မိုက်ကန်းနေသူများအား လျစ်လျူပြုထားတော်မူရမည်သာ။ ၎င်းတို့သည် ပြစ်ဒဏ်ကို ကိုယ်ထိလက်ရောက်၊ မြက်မြက်သက်သက် မခံစားကြရသမျှ ကာလပတ်လုံး၊ ဆိုးသွမ်းမိုက်မဲနေကြမည်ပင်။ ➤➤

## ကြယ်တာရာကဏ္ဍ

سُوْرَةُ النَّجْمِ

ဤကဏ္ဍသည် ကြယ်တာရာ ကဏ္ဍမည်၏။ မက္ကာမြို့တော်၌ ကျရောက်ခဲ့၏။
ဤကဏ္ဍတွင် အာယတ်တော် (၆၂)ပါး၊ ရကူအ် အပိုဒ် (၃)ပိုဒ် အသီးသီးပါရှိ၏။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ ۝

အလွန်တရာ သနားကြင်နာ ညှာတာတော်မူသော၊
အထူး ကရုဏာတော် ပြုတော်မူသော၊
အလ္လာဟ်အရှင်မြတ်၏ နာမံတော်ဖြင့် အစပြုပါ၏။

وَالنَّجْمِ اِذَا هَوٰى ۝١

၁။ (ငါအရှင်မြတ်သည်) ကြယ်တာရာကို သက်သေထူတော်မူ၏။ အကြင်အခါဝယ် ထိုကြယ်တာရာသည် ကွယ်ပျောက်၍သွားလေ၏။

مَا ضَلَّ صَاحِبُكُمْ وَمَا غَوٰى ۝٢

၂။ အသင်တို့၏အဖော် (တမန်တော်မြတ် မုဟမ္မဒ်)သည် လမ်းလွဲနေသည်လည်း မဟုတ်ပေ။ လမ်းမှားကို လိုက်ခဲ့သည်လည်း မဟုတ်ပေ။

وَمَا يَنْطِقُ عَنِ الْهَوٰى ۝٣

၃။ ထိုမှတစ်ပါး ထိုအဖော် (တမန်တော်မြတ် မုဟမ္မဒ်)သည် (မိမိ) စိတ်အလိုဆန္ဒအရ စကားပြောဆိုလေ့ရှိသည်လည်း မဟုတ်ပေ။ ၁

➤➤ နောက်ဆုံးတွင် တစ်ရက် အလ္လာဟ်အရှင်မြတ်၏ အမျက်တော်တည်းဟူသော မိုးကြိုးလောင်မီးသည် ၎င်းတို့အား ကွပ်မျက်ပေမည်။ ထိုအခါ ၎င်းတို့အား ၎င်းတို့၏ အကြံအစည်များသည် အသို့မျှ အကျိုးပေးနိုင်မည် မဟုတ်ပေ။ ၎င်းတို့သည် မည်သည့် အကူအညီကိုမျှလည်း ရရှိကြမည် မဟုတ်ပေ။ မိမိတို့ ဆိုးမိုက်ခဲ့ကြသမျှ ဒဏ်ကို လှလှကြီး ခံကြရပေမည်။ ထိုနေ့ကား အခြားမဟုတ်၊ ကိယာမတ်နေ့ပင်။

(၁) ဤအာယတ်တော်တွင်ပါရှိသော (ဆွာဟိဗုကွန်မ်) 'အသင်တို့၏အဖော်' ဟူသည် တမန်တော်မြတ် မုဟမ္မဒ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်) ကို ဆိုလိုသည်။တမန်တော်မြတ်သည် နားလည်လွဲမှား၍ တရားလမ်းမှ တိမ်းစောင်းတော်မူခဲ့သည်လည်း မရှိ၊ စေတနာအလျောက် သိပါလျက် လမ်းမှားကို လိုက်တော်မူခဲ့သည်လည်းမရှိ၊ မိုးကောင်းကင်ရှိ ကြယ်တာရာများသည် ထွက်သည့်အချိန်မှ ဝင်သည့်အချိန်အထိ သတ်မှတ်ထားသည့် လမ်းကြောင်းများတွင် သတ်မှတ်ထားသည့် ခရီးနှုန်းထားအတိုင်း အနည်းငယ် စိုးစဉ်းမျှ တိမ်းစောင်းသည်မရှိဘဲ၊ တိကျမှန်ကန်စွာ သွားလာလှုပ်ရှားလျက် ရှိသည့်အလား၊ တမန်တော်မြတ်တည်းဟူသော သူရိယနေမင်းကြီးသည်လည်း အလ္လာဟ်အရှင်မြတ် သတ်မှတ်ထားတော်မူသည့် တရားလမ်းကြောင်းပေါ်တွင် တိကျမှန်ကန်စွာ သွားလာလျက် ရှိတော်မူပေသည်။ ➤➤

إِنْ هُوَ إِلَّا وَحْيٌ يُوحَىٰ ④

၄။ ယင်းပြောဆိုမှုကား (အလ္လာဟ်အရှင်မြတ် အထံတော်မှ) ထုတ်ပြန်ခြင်း ခံရလေသော ထုတ်ပြန်ချက်သာလျှင်ဖြစ်ပေသည်။

عَلَّمَهُ شَدِيدُ الْقُوَىٰ ⑤

၅။ (အသင်တို့၏) ထိုအဖော်အား အလွန်အားအင်ကြီးမားသူ (ကောင်းကင်တမန်)သည် သင်ကြားပို့ချ၍ ပေးခဲ့လေ၏။

ذُو مِرَّةٍ فَاسْتَوَىٰ ⑥

၆။ စွမ်းအင်နှင့်ပြည့်စုံသူဖြစ်သော လွန်စွာလှပတင့်တယ်သူဖြစ်သော၊ ထို့နောက် ထို(ကောင်းကင်တမန်)သည် နဂိုမူလ ရုပ်သဏ္ဍာန်နှင့် အထင်အရှားပေါ်လာခဲ့၏။

وَهُوَ بِالْأُفُقِ الْأَعْلَىٰ ⑦

၇။ ထိုစဉ်အခါဝယ် ထို(ကောင်းကင်တမန်)သည် မြင့်စွင့်လှစွာသော မိုးကုပ်စက်ဝိုင်း၌ ရှိနေခဲ့၏။

ثُمَّ دَنَا فَتَدَلَّىٰ ⑧

၈။ ထို့နောက် ထို(ကောင်းကင်တမန်)သည် ချဉ်းကပ်၍ လာခဲ့၏။ ထို့နောက်တစ်ဖန် ထပ်မံ၍ ချဉ်းကပ်ခဲ့ပေရာ၊

فَكَانَ قَابَ قَوْسَيْنِ أَوْ أَدْنَىٰ ⑨

၉။ လေးနှစ်ပြန်မျှသာ ဝေးကွာလေတော့၏။ စင်စစ် ထို့ထက်ပင် ပို၍ နီးကပ်စွာ ရှိခဲ့လေ၏။

---

➤➤ ပွင့်လေသမျှသော တမန်တော်အပေါင်းသည် ကြယ်တာရာများနှင့် တူကြသည်။ လူသားတို့အား မိမိတို့၏ အလင်းရောင်ခြည်ဖြင့်လည်းကောင်း၊ သွားလာလှုပ်ရှားမှုဖြင့်လည်းကောင်း အကျိုးပြုကြသည်၊ လမ်းပြကြသည်။ ကြယ်တာရာအပေါင်း ဝင်သွားပြီးနောက် သူရိယနေမင်း ထွက်လာသည့်အလား၊ တမန်တော်အပေါင်း အသီးသီး ပြန်ကြွသွားပြီးနောက်တွင် တမန်တော်မြတ်တည်းဟူသော သူရိယနေမင်းကြီးသည် ထွက်ပေါ်လာတော်မူခဲ့ပေသည်။ အလ္လာဟ်အရှင်မြတ်သည် ရုပ်လောကရှိ ကြယ်တာရာအပေါင်းကိုပင် အံ့မကုန် စနစ်တကျ ခိုင်ခံ့စွာ ပြုစီရင်ထားတော်မူပေရာ၊ လူသားထုကြီး တစ်ရပ်လုံးနှင့် ပတ်သက်သည့် နာမ်လောကဆိုင်ရာ ကြယ်တာရာအပေါင်းနှင့် နေလတို့ကိုမူ ပို၍ပင် စနစ်တကျ ခိုင်ခံ့စွာ အံ့ဖွယ်သရဲ ပြုစီရင်ထားတော်မူသည် မဟုတ်ပါလော။ ဤသည့်သဘောကိုပင် ဤအာယတ်တော်တွင် ရည်ညွှန်းမိန့်ဆိုထားတော်မူသည်။

فَأَوْحَىٰ إِلَىٰ عَبْدِهِۦ مَآ أَوْحَىٰ ۝١٠

၁၀။ ထိုအခါ ထိုအရှင်မြတ်သည် မိမိ၏ ကျွန် (မုဟမ္မဒ်)ထံသို့ မိမိထုတ်ပြန်(လိုသော)ထုတ်ပြန်ချက်များကို ထုတ်ပြန်တော်မူခဲ့လေ၏။

مَا كَذَبَ ٱلْفُؤَادُ مَا رَأَىٰٓ ۝١١

၁၁။ (ထိုအသင်တို့အဖော်၏) စိတ်နှလုံးသည် တွေ့မြင်ခဲ့သော အရာများနှင့်စပ်လျဉ်း၍ *မှားယွင်းခြင်းမရှိခဲ့ပေ။* [၁]

أَفَتُمَٰرُونَهُۥ عَلَىٰ مَا يَرَىٰ ۝١٢

၁၂။ သို့ပါလျက် အသင်တို့သည် ထိုအဖော်နှင့် ၎င်းတွေ့မြင်ခဲ့သောအရာများတွင် အငြင်းအခုံ ပြုနေကြလေသလော။

وَلَقَدْ رَءَاهُ نَزْلَةً أُخْرَىٰ ۝١٣

၁၃။ ထိုမှတစ်ပါး ထိုအဖော်သည် ထို(ကောင်းကင်တမန်)အား ဒုတိယအကြိမ် ဆင်းသက်ရာ၌ မုချဧကန်တွေ့မြင်ခဲ့၏။

عِندَ سِدْرَةِ ٱلْمُنتَهَىٰ ۝١٤

၁၄။ နယ်စွန်နယ်ဖျား၌ရှိသော ဆီးပင် *'စိဒ်ရတုလ်မွန်တဟာ' ဆီးပင်၏အနီးတွင်၊* [၂]

---

၁ ဆိုလိုသည်ကား- တမန်တော်မြတ်သည် ကောင်းကင်တမန် ဂျစ်ဗ်ရီလ်အား မိမိ၏ မျက်စိများဖြင့် တပ်အပ်သေချာ မြင်တော်မူခဲ့၏။ ယင်းသို့ ကောင်းကင်တမန်အား တမန်တော်မြတ်က မျက်စိဖြင့် တပ်အပ်သေချာ မြင်နေတော်မူသည်မှာ၊ အမှန်တကယ် ဖြစ်သည်ကို တမန်တော်မြတ်၏ စိတ်နှလုံးသားအတွင်းမှ ခြေခြေမြစ်မြစ် ပိုင်ပိုင်နိုင်နိုင် ထောက်ခံနေပေသည်။

ဆိုလိုသည်ကား-တမန်တော်မြတ်သည် ကောင်းကင်တမန် ဂျစ်ဗ်ရီလ်အား အမှန်တကယ် မြင်တော်မူခဲ့သည်။ ယင်းသို့ မြင်တော်မူခဲ့သည်ကို တမန်တော်မြတ်၏ စိတ်နှလုံးကလည်း အလေးအနက် ယုံကြည်ခဲ့ပေသည်။ ဤသို့ဖြင့် အလ္လာဟ်အရှင်မြတ်သည် သက်ဆိုင်ရာ တမန်တော်များ၏ စိတ်နှလုံးများတွင် ကောင်းကင်တမန် ဂျစ်ဗ်ရီလ်အား သိကျွမ်းမှုကို ထည့်သွင်းပေးတော်မူပေသည်။

၂ တမန်တော်မြတ်သည် ကောင်းကင်တမန် ဂျစ်ဗ်ရီလ်အား ၎င်း၏မူရင်း ရုပ်ဆင်းသဏ္ဍာန်၌ မိအ်ရာဂျ်ညဉ့်တွင် မိုးကောင်းကင် ခုနစ်ထပ်အထက် 'စိဒ်ရတုလ်မွန်တဟာ' အနီး၌ ဒုတိယတစ်ကြိမ် တွေ့မြင်တော်မူခဲ့သည်။

'စိဒ်ရဟ်' ၏အဓိပ္ပာယ်မှာ အဘိဓာန်အရ ဆီးပင် ဟူ၍ဖြစ်သည်။ 'စိဒ်ရတုလ်မွန်တဟာ'သည် ဤကမ္ဘာရှိ အပင်များနှင့် အမည်အားဖြင့် တူငြားသော်လည်း၊ အထက်ဂွင် အကြိမ်ကြိမ် ရေးသားထားခဲ့သကဲ့သို့၊ အရည်အချင်းအားဖြင့်ကား အလျှင်းတူမည် မဟုတ်ပေ။

စိဒ်ရတုလ်မွန်တဟာသည် သတ္တမ မိုးကောင်းကင်အထက်၌ တည်ရှိသည်။ အချို့အဆိုအရ ➤➤

عِنْدَهَا جَنَّةُ الْمَأْوٰى ⑮

၁၅။ ယင်းဆီးပင်၏ အနီး၌ပင် 'ဂျန္နတုလ်မအ်ဝါ' သုခဘုံ ရှိ၏။

اِذْ يَغْشَى السِّدْرَةَ مَا يَغْشٰى ⑯

၁၆။ အကြင်အခါဝယ် ဆီးပင်ကို ဖုံးလွှမ်းလျက် ရှိသောအရာများသည် ဖုံးလွှမ်းလျက်ရှိ၏။ [၁]

مَا زَاغَ الْبَصَرُ وَمَا طَغٰى ⑰

၁၇။ (ထိုအဖော်၏) မျက်စိသည် သွေဖည်ခဲ့သည်လည်းမရှိချေ။ ကျော်လွန်သွားခဲ့သည်လည်း မရှိချေ။

لَقَدْ رَاٰى مِنْ اٰيٰتِ رَبِّهِ الْكُبْرٰى ⑱

၁၈။ ဧကန်မလွဲ ထိုအဖော်သည် ၎င်းအား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၏ ကြီးကျယ်လှစွာသော သက်သေလက္ခဏာတော်များကို တွေ့မြင်ခဲ့သည်မှာ အမှန်ပေတည်း။

---

➤➤ ဆဋ္ဌမ မိုးကောင်းကင်၏ အထက်၌ တည်ရှိသည်။ အဆိုတစ်ရပ်အရ ဆဋ္ဌမ မိုးကောင်းကင်နှင့် သတ္တမ မိုးကောင်းကင် ၂ ခုလုံး၌ တည်ရှိသည်။ စစ်ဒ်ရတုလ်မွန်တဟာ အထက်ကမ္ဘာနှင့် အောက်ကမ္ဘာ အဆုံးစွန်ဌာနဖြစ်သည်။ အထက်ကမ္ဘာမှ ဆင်းသက်သော တရားတော် စသည်များသည် စစ်ဒ်ရတုလ်မွန်တဟာတွင် ပထမ ဆုံးခန်းတိုင်သည်။ ထိုမှတစ်ဆင့် ကောင်းကင်တမန်များသည် အောက်ကမ္ဘာသို့ ယူဆောင်လာကြရသည်။ ထိုနည်းအတူ အောက်ကမ္ဘာမှအထက်ကမ္ဘာသို့တက်သောအကျင့်အမူ စသည်များသည်လည်း စစ်ဒ်ရတုလ်မွန်သဟာတွင်ပင် ပထမဆုံးခန်းတိုင်သည်။ ထိုမှတစ်ဆင့် အထက်ကမ္ဘာသို့ ယူဆောင်သွားရပေသည်။

ကြည့်-မာရိဖ်ဒီ၊ မဒါရိက်၊ ဖိုင်သွာဇီ၊ ကဗီရ်။

(၁) 'စစ်ဒ်ရတုလ်မွန်တဟာ' ကို ဖုံးအုပ်လွှမ်းခြုံလျက်ရှိသော အရာကား အခြားမဟုတ်၊ အလ္လာဟ်အရှင်မြတ်၏ ရောင်ခြည်တော်များပင်။ ထို့ပြင်တစ်ဝ စစ်ဒ်ရတုလ်မွန်တဟာပေါ်၌ ကောင်းကင်တမန်များသည် အဘယ်မျှ များပြားစွာ ရှိနေကြသည်ဆိုသော်- အရွက်တိုင်းအပေါ်၌ ကောင်းကင်တမန်တစ်ပါးကို တွေ့မြင်ရပေမည်။ အဆိုတစ်ရပ်အရ ဖုံးအုပ် လွှမ်းခြုံလျက်ရှိသော အရာဟူသည် ရွှေရောင်တောက်ပလျက်ရှိသော ပိုးဖလံများကို ဆိုလိုသည်။ ဆိုလိုသည်ကား-စစ်ဒ်ရတုလ်မွန်တဟာသည် ပြော၍ပင် မဖြစ်နိုင်အောင်ပင် လှပတင့်တယ်ရှုစဖွယ် ဖြစ်ပေသည်။

အမှန်မှာ 'စစ်ဒ်ရတုလ်မွန်တဟာ' ကို အဘယ်အရာများက ဖုံးအုပ် လွှမ်းခြုံထားသည်၊ တမန်တော်မြတ်သည် အလ္လာဟ်အရှင်မြတ်၏ သက်သေလက္ခဏာတော်များအနက် မည်ရွေ့မည်မျှ မည်သို့မည်ပုံ တွေ့မြင်တော်မူခဲ့သည်များကို အလ္လာဟ်အရှင်မြတ်နှင့် ကာယကံရှင် ဖြစ်တော်မူသော တမန်တော်မြတ်သာလျှင် အတိအကျ သိရှိတော်မူကြပေမည်။

أَفَرَءَيْتُمُ اللَّٰتَ وَالْعُزَّىٰ ⑲

၁၉။ သို့ဖြစ်ပေရာ အသင်တို့သည် 'လားတ်'နှင့် စပ်လျဉ်း၍လည်းကောင်း၊ 'အွဇ္ဇာ' နှင့်စပ်လျဉ်း၍လည်း ကောင်း၊

وَمَنَوٰةَ الثَّالِثَةَ الْأُخْرَىٰ ⑳

၂၀။ အခြား တတိယမြောက်ဖြစ်သော 'မနားတ်'နှင့် စပ်လျဉ်း၍လည်းကောင်း၊ ဆင်ခြင်သုံးသပ်ခြင်းကို ပြုခဲ့ကြလေသလော။

أَلَكُمُ الذَّكَرُ وَلَهُ الْأُنثَىٰ ㉑

၂၁။ အသင်တို့၌ သားယောကျ်ားကလေးများ ရှိကြ၍ ထိုအရှင်မြတ်၌ သမီးမိန်းကလေးများ ရှိကြလေသလော။

تِلْكَ إِذًا قِسْمَةٌ ضِيزَىٰ ㉒

၂၂။ *ဤသည်ကားလွန်စွာမမျှတသောခွဲဝေမှုပင်၊* [၁]

إِنْ هِيَ إِلَّا أَسْمَاءٌ سَمَّيْتُمُوهَا أَنتُمْ وَآبَاؤُكُم مَّا أَنزَلَ اللَّهُ بِهَا مِن سُلْطَانٍ ۚ إِن يَتَّبِعُونَ إِلَّا الظَّنَّ وَمَا تَهْوَى الْأَنفُسُ ۖ وَلَقَدْ جَاءَهُم مِّن رَّبِّهِمُ الْهُدَىٰ ㉓

၂၃။ ယင်း(ဆိုခဲ့ပြီးသော ရုပ်တု)တို့မှာ အသင်တို့ ကိုယ်တိုင်သည်လည်းကောင်း၊ အသင်တို့၏ အဘ၊ ဘိုး ဘေးတို့သည်လည်းကောင်း၊ မှည့်ခေါ်ထားသော အမည်နာမများသာလျှင် ဖြစ်ကြကုန်၏။ အလ္လာဟ် အရှင်မြတ်သည် ယင်းတို့(ကိုကိုးကွယ်ရန်)နှင့် စပ်လျဉ်း၍ မည်သည့်သက်သေသာဓက တစ်စုံတစ်ရာကိုမျှပင် ချပေးတော်မူခဲ့သည် မဟုတ်ပေ။ ထိုသူတို့ကား ရမ်းဆ ထင်မြင်ချက်နှင့် စိတ်အလိုဆန္ဒများကိုသာလျှင် လိုက်နာလျက် ရှိကြကုန်၏။ အမှန်မှာ ၎င်းတို့ထံသို့ ၎င်းတို့၏အရှင်ထံမှ အမှန်တရားသည် ရောက်ရှိလာခဲ့ချေပြီ။

---

(၁) ကာဖိရ်၊ မုရှ်ရစ်က်များက လားတ်၊ အွဇ္ဇာနှင့် မနားတ်သည် မပြောစကောင်း၊ အလ္လာဟ်အရှင်မြတ်၏ သမီးများဖြစ်သည်ဟု ဆိုခဲ့ကြ၏။ အမှန်မှာ အလ္လာဟ်အရှင်မြတ်သည် မိဘ သားသမီးနှင့် လုံး၀ ကင်းစင်တော်မူသည်။ ကြည့်-ကုရ်အာန် (၁၁၂း၁-၄)

အကယ်တန္တိ မပြောကောင်း မဆိုအပ် အလ္လာဟ်အရှင်မြတ်၌ သားသမီးရှိသည်ဟူ၍ပင် ဆိုပါဦးစို့။ သို့လင့်ကစား မိမိတို့အဖို့ မိမိတို့ နှစ်ခြိုက်သော သားယောကျ်ားများ ဖြစ်သည်။ အလ္လာဟ်အရှင်မြတ်အဖို့ မိမိတို့ မနှစ်ခြိုက်သော သမီးမိန်းကလေးများဖြစ်သည် ဟူသော ခွဲဝေမှုမှာကား နည်းလမ်းမကျလှပေ။

أَمْ لِلْإِنسَانِ مَا تَمَنَّىٰ ﴿٢٤﴾

၂၄။ 'မနုဿ'လူသား၌ ၎င်းအာသာဆန္ဒရှိသမျှ ရှိလေသလော။

فَلِلَّهِ الْآخِرَةُ وَالْأُولَىٰ ﴿٢٥﴾

၂၅။ စင်စစ်မှာကား တမလွန်ဘဝသည် လည်းကောင်း၊ လောကီဘဝသည်လည်းကောင်း၊ အလ္လာဟ် အရှင်မြတ်(၏ လက်တော်တွင်း)၌သာရှိ၏။

وَكَم مِّن مَّلَكٍ فِي السَّمَاوَاتِ لَا تُغْنِي شَفَاعَتُهُمْ شَيْئًا إِلَّا مِن بَعْدِ أَن يَأْذَنَ اللَّهُ لِمَن يَشَاءُ وَيَرْضَىٰ ﴿٢٦﴾

၂၆။ စင်စစ်သော်ကား မိုးကောင်းကင်များ၌ မြောက်မြားစွာသော ကောင်းကင်တမန်တို့သည် ရှိကြကုန်၏။ (သို့ရာတွင်) ၎င်းတို့၏ ကြားဝင်အသနားခံပေးမှုသည်ပင် အလ္လာဟ်အရှင်မြတ်က မိမိအလိုရှိတော်မူ၍ ကျေနပ်တော်မူသောသူနှင့် ပတ်သက်၍ ခွင့်ပြုတော်မူပြီး နောက်မှသာလျှင် အသုံးဝင်နိုင်အံ့သတည်း။ [၁]

إِنَّ الَّذِينَ لَا يُؤْمِنُونَ بِالْآخِرَةِ لَيُسَمُّونَ الْمَلَائِكَةَ تَسْمِيَةَ الْأُنثَىٰ ﴿٢٧﴾

၂၇။ ဧကန်စင်စစ် 'အာခိရတ်'တမလွန်ကို မယုံကြည်သော သူတို့သည် 'မလာအိကဟ်' ကောင်းကင်တမန်တို့အား မိန်းမများ၏ အမည်နာမများဖြင့် မှည့်ခေါ်ကြကုန်၏။

---

(၁) ကာဖိရ်၊ မုရှ်ရစ်က်များသည် မိမိတို့၏ ရုပ်တုများကို အထူးတလည် အားကိုးနေခဲ့ကြ၏။ ယင်းရုပ်တုများသည် မိမိတို့အား ချွတ်ကယ်ကြလိမ့်မည်ဟု ထင်မှတ်နေခဲ့ကြ၏။ အပါးတော်၌ ခစားလျက် ရှိကြကုန်သော ကောင်းကင်တမန်များ၏ အသနားခံပေးမှုသည်ပင်လျှင် အသို့မျှ အကျိုးပြုနိုင်သည် မဟုတ်ပေ။

သို့ရာတွင် အလ္လာဟ်အရှင်မြတ် ကိုယ်တော်တိုင်က အကြင်သူ တစ်ဦးတစ်ယောက်နှင့် ပတ်သက်၍ အသနားခံပေးရန် ခွင့်ပြုတော်မူပါသော်၊ ထိုသူအားလည်း ကျေနပ်တော်မူပါသော်၊ အသနားခံပေးမှုသည် အကျိုးသက်ရောက်နိုင်ပေသည်။

ယခုသော် အလ္လာဟ်အရှင်မြတ်သည် ရုပ်တုများကို အသနားခံပေးရန် ခွင့်ပြုထားတော်မူသည်လည်း မဟုတ်၊ ကာဖိရ်၊ မုရှ်ရစ်က်များကို ကျေနပ်တော်မူသည်လည်း မဟုတ်၊ သို့ဖြစ်ပေရာ ကျိုးပြစ် တစ်စုံတစ်ရာ မပြုစွမ်းနိုင်သော အဆိုပါ ရုပ်တုများ၏ အသနားခံပေးမှုကို မျှော်ကိုးနေခြင်းမှာ ကိုယ့်ကိုယ်ကို လှည့်စားခြင်းသာ ဖြစ်သည်။

وَمَا لَهُم بِهِۦ مِنْ عِلْمٍ ۖ إِن يَتَّبِعُونَ إِلَّا ٱلظَّنَّ ۖ وَإِنَّ ٱلظَّنَّ لَا يُغْنِى مِنَ ٱلْحَقِّ شَيْـًٔا ﴿٢٨﴾

၂၈။ စင်စစ်သော်ကား ဤသည်နှင့်စပ်လျဉ်း၍ ၎င်းတို့၌ မည်သည့် သက်သေ အထောက်အထား အသိပညာမျှ မရှိပြီ။ ၎င်းတို့သည် ရမ်းဆထင်မြင်မှုကိုသာလျှင် လိုက်နာကြကုန်၏။ သို့ရာတွင် ရမ်းဆ ထင်မြင်မှုမှာ အမှန်တရားနှင့် ယှဉ်ပြိုင်၍ လုံးဝ အသုံးဝင်သည် မဟုတ်ပေ။

فَأَعْرِضْ عَن مَّن تَوَلَّىٰ عَن ذِكْرِنَا وَلَمْ يُرِدْ إِلَّا ٱلْحَيَوٰةَ ٱلدُّنْيَا ﴿٢٩﴾

၂၉။ သို့ဖြစ်ပေရာ (အို-နဗီတမန်တော်၊) အသင်သည် အကြင်သူတို့အား လျစ်လျူရှု၍ နေပါလေ။ ထိုသူတို့သည် ငါအရှင်မြတ်၏ ဆုံးမဩဝါဒတော်မှ မျက်နှာလွှဲ၍ နေခဲ့ကြကုန်၏။ ထိုမှတစ်ပါး ၎င်းတို့သည် လောကီဘဝမှတစ်ပါး အခြား တစ်စုံတစ်ရာကို ရည်ရွယ်ကြသည် မဟုတ်ပေ။ ①

ذَٰلِكَ مَبْلَغُهُم مِّنَ ٱلْعِلْمِ ۚ إِنَّ رَبَّكَ هُوَ أَعْلَمُ بِمَن ضَلَّ عَن سَبِيلِهِۦ وَهُوَ أَعْلَمُ بِمَنِ ٱهْتَدَىٰ ﴿٣٠﴾

၃၀။ ဤသည် ၎င်းတို့၏ အမြင့်ဆုံးသော အသိပညာပင်။ ကေန်မလွဲ အသင့်အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်သည်ပင်လျှင် ထိုအရှင်မြတ်၏လမ်းမှ လွဲချော်သူအား အသိတော်မူဆုံး ဖြစ်တော်မူ၏။ ထိုမှတစ်ပါး ထိုအရှင်မြတ်သည်သာလျှင် တရားလမ်းရရှိသောသူအား အသိတော်မူဆုံး ဖြစ်တော်မူပေသတည်း။

---

① ဆိုလိုသည်ကား - ကာဖိရ်များသည် (အာခိရတ်) နောင်တမလွန်ဘဝကို မယုံကြည်ကြသည့်အတွက်၊ နောင်တမလွန်ဘဝတွင် ခံစားရမည့်ပြစ်ဒဏ်ကို အမေ့ကြီးမေ့နေကြ၏။ စိတ်အလိုလိုက်ကာ ဆိုးမိုက်နေကြ၏။ မပြောသင့် မပြောအပ် မပြုသင့် မပြုအပ်သည်များကို ပြောဆိုပြုလုပ်ကြ၏။ ဥပမာ-ယင်း ကာဖိရ်များက ကောင်းကင်တမန်များသည် အလ္လာဟ်အရှင်မြတ်၏ သမီးတော်များဖြစ်သည် ဟူ၍ပင် အထောက်အထား တစ်စုံတစ်ရာ မရှိပါဘဲလျက် ပြောဆိုကြ၏။ ဤသည် ၎င်းတို့၏ မိုက်မဲမှုပင်။

အလ္လာဟ်အရှင်မြတ်၌ ဂုဏ်ရည်တူမရှိ၊ သားလည်းမရှိ၊ သမီးလည်းမရှိ၊ မည်သည့် သံယောဇဉ်မျှလည်း မရှိ။ အမှန်မှာ ကာဖိရ်များသည် ဤပစ္စက္ခဘဝကိုပင် အဓိကဟူ၍ ထင်မှတ်ကာ လောကီရေးရာများတွင် လုံးဝနစ်မွန်းနေကြ၏။ နောင်တမလွန်ဘဝကို အမေ့ကြီးမေ့နေကြ၏။ ဤပစ္စက္ခဘဝမှ ကျော်လွန်၍ တစ်စုံတစ်ရာမျှ မျှော်မြင်နိုင်ကြသည်လည်း မရှိ။ ထို့အတွက် ၎င်းတို့သည် စိတ်၏တွေးထင်ရာနောက်သို့သာ အခေါက်ခေါက် ▶▶

وَلِلّٰهِ مَا فِي السَّمٰوٰتِ وَمَا فِي الْاَرْضِ ۙ لِيَجْزِيَ الَّذِيْنَ اَسَآءُوْا بِمَا عَمِلُوْا وَيَجْزِيَ الَّذِيْنَ اَحْسَنُوْا بِالْحُسْنٰى ﴿٣١﴾

၃၁။ ထိုမှတစ်ပါး မိုးကောင်းကင်များ၌ ရှိသမျှတို့သည်လည်းကောင်း၊ ပထဝီမြေ၌ရှိသမျှတို့သည်လည်းကောင်း၊ အလ္လာဟ်အရှင်မြတ် ပိုင်ဆိုင်တော်မူသော အရာများသာလျှင် ဖြစ်ကြကုန်၏။ နောက်ဆုံးတွင် ထိုအရှင်မြတ်သည် ဒုစရိုက်မှုကို ကျူးလွန်ခဲ့ကြသော သူတို့အား ၎င်းတို့ကျူးလွန်ခဲ့ကြသည်၏ အကျိုးကို ပေးတော်မူအံ့၊ ထိုနည်းတူစွာ ထိုအရှင်မြတ်သည် ကောင်းမှု ပြုခဲ့ကြသောသူတို့အား ကောင်းမြတ်သော အကျိုးကို ပေးတော်မူအံ့။

اَلَّذِيْنَ يَجْتَنِبُوْنَ كَبٰٓئِرَ الْاِثْمِ وَالْفَوَاحِشَ اِلَّا اللَّمَمَ ؕ

၃၂။ (ထိုကောင်းမှုပြုသူတို့မှာ) အသေးအဖွဲပြစ်မှုများကို (မတော်တဆ) ပြုမိကြသော်လည်း ကြီးလေးသောပြစ်မှုတို့မှလည်းကောင်း၊ ညစ်ညမ်းမှုတို့မှလည်းကောင်း၊ (အထူး)ကြဉ်ရှောင်ကြကုန်၏။ [၁]

>> လိုက်နေကြ၏။ ၎င်းတို့၏ အသိဉာဏ်ကား တိမ်ဘိ၏။ သိမ်ဖျင်းဘိ၏။ သို့ဖြစ်ရာ တမန်တော်မြတ်သည် ထိုသို့ အတွေးတိမ်သော၊ စိတ်ထင်ရာစိုင်းနေသော၊ လောကီရေးရာများတွင် နစ်မွန်းနေသော၊ နောင်တမလွန်ဘဝကို မေ့ကာ အလ္လာဟ်အရှင်မြတ်အား သွေဖည်ကျောခိုင်းနေသော ကာဖိရ်များနှင့် ပတ်သက်၍ တမန်တော်မြတ်သည် စိတ်သောက ဖြစ်နေတော်မူရန် မလိုပေ။ ၎င်းတို့အား လျစ်လျူပြုထားတော်မူရမည်သာတည်း။

(၁) အထက်တွင် ကောင်းမှုပြုသူများအား ကောင်းကျိုးပေးတော်မူမည့်အကြောင်း ပါရှိ၏။ ကောင်းမှုပြုသော သူတော်စင်များသည် ကြီးလေးသော အပြစ်များ၊ ရှက်ဖွယ်ရာ ညစ်ညမ်းမှုများမှ အထူးရှောင်ကြဉ်ကြပေသည်။ သို့ရာတွင် လူ့သဘာဝအလျောက် ယင်း သူတော်စင်များ၌ပင် (လမမ်)ခေါ် သာမန်အသေးအဖွဲ ပြစ်မှုများ မတော်တဆ ဖြစ်ပေါ်တတ်ပေသည်။

'လမမ်' ဟူသော အပြစ်ကား အဘယ်နည်း။ 'လမမ်' ဟူသည် ကိုယ်ထိလက်ရောက် ပြုလုပ်သည့် အဖြစ်သို့ မရောက်သေးသည့် မကောင်းသောအကြံအစည် အတွေးအခေါ်များကို ဆိုလိုသည်ဟု အချို့က ဖွင့်ဆိုကြသည်။ အချို့က 'လမမ်' ဟူသည် သေးငယ်သော အပြစ်များကို ဆိုလိုသည်ဟု ဖွင့်ဆိုကြသည်။

အချို့ကမူ 'လမမ်' ဟူသည် အကြင်သို့သော အပြစ်ကို ဆိုလိုသည်။ ယင်း အပြစ်ကို ကျူးလွန်မိပြီးနောက် ထိုအပြစ်ကို ဆက်လက်၍ အစဉ်တစိုက် မကျူးလွန်တော့ပေ။ သို့တည်းမဟုတ် အပြစ်ကို ဆက်လက် ကျူးလွန်ရန် အကျင့်ပြုလုပ်မထားပေ။ သို့တည်းမဟုတ် အပြစ်တစ်ခုကို ကျူးလွန်မိပြီးနောက် အချိန်မီ ဝန်ချ တောင်းပန်၏။ ထိုထိုသော အပြစ်များသည် 'လမမ်' တွင် အကျုံးဝင်သည်ဟု ဖွင့်ဆိုကြပေသည်။

رَبَّكَ وَاسِعُ الْمَغْفِرَةِ هُوَ أَعْلَمُ بِكُمْ إِذْ أَنْشَأَكُمْ مِنَ الْأَرْضِ وَإِذْ أَنْتُمْ أَجِنَّةٌ فِي بُطُونِ أُمَّهَاتِكُمْ فَلَا تُزَكُّوا أَنْفُسَكُمْ هُوَ أَعْلَمُ بِمَنِ اتَّقَىٰ ﴿٣٢﴾

ဧကန်မလွဲ အသင့်အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်သည် ကျယ်ဝန်းလှစွာသော လွတ်ငြိမ်းချမ်းသာခွင့်ကို ပိုင်ဆိုင်တော်မူသော အရှင်မြတ်ဖြစ်တော်မူ၏။ ထိုအရှင်မြတ်သည် အသင်တို့အား မြေဖြင့်ဖန်ဆင်းတော်မူခဲ့စဉ်အခါ၌ အသင်တို့အား ကောင်းစွာသိရှိတော်မူ၏။ အသင်တို့သည် မိမိတို့၏ မိခင်များ၏ ဝမ်းဗိုက်များတွင် သန္ဓေတည်စ ကလေးဘဝ၌ရှိခဲ့စဉ်အခါ၌လည်း အသင်တို့အား ကောင်းစွာ သိရှိတော်မူ၏။ သို့ဖြစ်ပေရာ အသင်တို့သည် မိမိတို့ကိုယ်ကို မိမိတို့ မြင့်မြတ်သည် စင်ကြယ် သန့်ရှင်းသည်ဟု မထင်ကြကုန်လင့်၊ ထိုအရှင်မြတ်သည်သာလျှင် ပြစ်မှုဒုစရိုက်တို့မှ ကြဉ်ရှောင်ကြကုန်သော သူတို့အား အသိတော်မူဆုံး ဖြစ်တော်မူပေသတည်း။ ၁

(၁) ဆိုလိုသည်ကား-အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်ဖြင့် တစ်ဦးတစ်ယောက်သည် 'တာက်ဝါ' သူတော်ကောင်းတရားကို လက်ခံနာယူကျင့်မှုခွင့် ရရှိထားပါသော်၊ ထိုသူသည် မိမိကိုယ်ကို အထင်မကြီးရာ၊ ဘဝင်မမြင့်ရာ၊ မကြွားဝါရာ။ အလ္လာဟ်အရှင်မြတ်သည် မည်သူ မည်ဝါ မည်မျှ သူတော်ကောင်းတရားထားရှိသည်၊ အဘယ်မျှ စင်ကြယ်သန့်ရှင်း အပြစ်ကင်းသည်များကို အသိဆုံး ဖြစ်တော်မူသည်။ ယနေ့ သူတော်ကောင်းသည် နက်ဖြန် ဖောက်ပြန်သွားနိုင်သည်။ ယနေ့ဖောက်ပြန်နေသူတစ်ဦးသည် နက်ဖြန် သူတော်ကောင်းလည်းဖြစ်သွားနိုင်သည်။ ဤသည်ကို သူ ငါမသိ၊ အလ္လာဟ်အရှင်မြတ်သိတော်မူသည်။ အလ္လာဟ်အရှင်မြတ်သည် အဘယ်မျှ သိတော်မူသည်ဆိုသော်၊ လူ့ဘဝတွင် ခြေမချမီ အလျှင်ကတည်းက ထိုသူ၏ အကြောင်းကို စ၊ လယ်၊ ဆုံး သိတော်မူသည်။

သို့ဖြစ်ရာ လူသားသည် မိမိ၏ မူလဘူတ အစကို မမေ့ရာ။ လူသားသည် မြေမှ စတင်ဖြစ်ပေါ်လာခဲ့သည်။ (ဖခင်ကြီး အာဒမ်သခင်သည် မြေမှ ဖန်ဆင်းခြင်း ခံခဲ့ရပေသည်)။ ထို့နောက် လူသားတို့သည် ကလလရေကြည် တစ်စက်မှ စတင်ခဲ့သည်။ အမိဝမ်းဗိုက်တွင် လပေါင်းများစွာ နေခဲ့ရသည်။ ထို့နောက် အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်ဖြင့် ရုပ်နာမ်ဆိုင်ရာ ဘဝအမျိုးမျိုးကို ကျော်လွန်ကာ၊ နောက်ဆုံးတွင် လူတစ်လုံး သူတစ်လုံး ဖြစ်လာခဲ့သည်။ သို့ဖြစ်ရာ ထိုသို့သော လူသားတစ်ဦးသည် စကားကြီး စကားကျယ် မပြောဆိုရာ။

စစ်မှန်သော သူတော်စင်များသည်ပင် မိမိတို့ကိုယ်ကို မိမိတို့ သူတော်စင်များပါဟူ၍ ပြောဆိုရန် ရှက်ကြပေသည်။ အဘယ်ကြောင့်ဆိုသော် သူတော်စင်များသည် အဘယ်မျှပင် သူတော်စင်များ ဖြစ်လင့်ကစား၊ ပြစ်မှုအပေါင်းမှ လုံးဝစင်ကြယ်သန့်ရှင်း အပြစ်ကင်းခြင်း မဖြစ်နိုင်သည်ကို သိနားလည်ကြပေသည်။ ▷▷

أَفَرَءَيْتَ الَّذِي تَوَلَّىٰ ﴿٣٣﴾

၃၃။ (အို-နဗီတမန်တော်)၊ အသင်သည် အကြင်သူအား မမြင်ခဲ့လေသလော။ ထိုသူသည် မျက်နှာလွှဲသွားခဲ့၏။

وَأَعْطَىٰ قَلِيلًا وَأَكْدَىٰ ﴿٣٤﴾

၃၄။ ၎င်းပြင် ထိုသူသည် အနည်းငယ်မျှ (ပစ္စည်း) ကိုပေး၍ (ယခု) ပိတ်ပင်ခဲ့၏။ ^၁^

أَعِندَهُۥ عِلْمُ الْغَيْبِ فَهُوَ يَرَىٰ ﴿٣٥﴾

၃၅။ ၎င်း၏ထံတွင် အကွယ်၌ရှိသည်ကို သိစွမ်းနိုင်သော အသိပညာရှိနေသောကြောင့် ၎င်းသည် တွေ့မြင်လေသလော။

أَمْ لَمْ يُنَبَّأْ بِمَا فِي صُحُفِ مُوسَىٰ ﴿٣٦﴾

၃၆။ ၎င်းသည် 'မူစာ'၏ ကျမ်းများ၌ လာရှိသည်ကိုလည်းကောင်း၊

وَإِبْرَٰهِيمَ الَّذِي وَفَّىٰ ﴿٣٧﴾

၃၇။ (အမိန့်တော်များကို) ကျေပွန်စွာဆောင်ရွက်ခဲ့သော 'အီဗ်ရာဟီမ်'၏ကျမ်းတော်များ၌ လာရှိသည်ကိုလည်းကောင်း၊ သတင်းပေးခြင်း မခံခဲ့ရလေသလော။

---

➤➤ လူသားတို့၌ လူ့သဘာဝအလျောက် အနည်းနှင့်အများ အပြစ်ရှိသည်သာ ဖြစ်သည်။ တစ်ဦးတစ်ယောက်အား အလ္လာဟ်အရှင်မြတ် ကိုယ်တော်တိုင်က မိမိကျေးဇူးတော်ဖြင့် စင်ကြယ်သန့်ရှင်း အပြစ်ကင်းအောင် ကာကွယ်ထိန်းသိမ်းထားတော်မူပါသော်၊ ဤကား တစ်ဘာသာပင်။

(၁) အထက်တွင် သူတော်စင်များ၏ အချို့ဂုဏ်ရည်များကို မိန့်ဆိုထားတော်မူသည်။

ဤအာယတ်တော်တွင် သူယုတ်မာများ၏ အချို့အကျင့်ကို မိန့်ဆိုထားတော်မူသည်။

ဆိုလိုသည်ကား- အချို့သူယုတ်မာများသည် ဤသို့လည်း ရှိကြသည်။ ပထမသော် အနည်းငယ် အီမာန် သက်ဝင်ယုံကြည်လာခဲ့၏။ ထို့နောက်တွင်သော် သူ၏ စိတ်ဓာတ်သည် ခဲယဉ်းသွားပြန်၏။

မုဂျာဟိဒ်စသည့် ပညာရှင်များ၏ ဖွင့်ဆိုချက်အရ ဤ အာယတ်တော်သည် ဝလီဒ် အစ်ဗ်နုမုဃီရဟ်နှင့် ပတ်သက်၍ ကျရောက်လာခဲ့ခြင်းဖြစ်သည်။ ဝလီဒ်သည် တမန်တော်မြတ်၏ တရားတော်များကို ကြားနာ၍၊ ပထမသော် အစ္စလာမ်ဘက်သို့ အနည်းငယ် တိမ်းညွတ်လာခဲ့၏။ 'ကုဖ်ရ်' သွေဖည် ငြင်းဆန်မှု၏ ပြစ်ဒဏ်များကို ကြောက်ရွံ့ပြီး အစ္စလာမ်ဘောင်အတွင်းသို့ ကူးပြောင်းလာအံ့ဆဲဆဲပင် ဖြစ်လာခဲ့၏။

ထိုအချိန်တွင် ကာဖိရ်တစ်ယောက်က ဝလီဒ်အား အသင် ဤသို့ မပြုလုပ်လေနှင့်။ အသင်၏ အပြစ်အားလုံးကို ကျွန်ုပ် ထမ်းဆောင်ပါမည်။ အသင့်ကိုယ်စား ကျွန်ုပ် အပြစ်ဒဏ်ခံပါမည်။ သို့ရာတွင် အသင်သည် ကျွန်ုပ်အား ဤရွေ့ဤမျှ ငွေပေးရမည်ဟု ပြောဆိုသောအခါ၊ ဝလီဒ်က ကောင်းပါပြီ၊ အသင် တောင်းဆိုသောငွေကို ကျွန်ုပ် အရစ်ကျ ပေးသွားပါမည်ဟု ကတိပြုကာ၊ ပထမသော်- တစ်ရစ်၊ နှစ်ရစ်၊ ငွေများ ပေးခဲ့သေး၏။ ထို့နောက်သော် ကျန်ငွေများကို ပေးခြင်းမှ ငြင်းပယ်ခဲ့လေသည်။

أَلَّا تَزِرُ وَازِرَةٌ وِزْرَ أُخْرَىٰ ﴿٣٨﴾

၃၈။ ကေန်စင်စစ် မည်သည့်သယ်ပိုးသူ တစ်ဦး တစ်ယောက်မျှပင် သူတစ်ပါး၏ဝန်ထုပ်ကို သယ်ပိုး ရွက်ဆောင်မည် မဟုတ်ဟူ၍လည်းကောင်း။ [၁]

وَأَن لَّيْسَ لِلْإِنسَانِ إِلَّا مَا سَعَىٰ ﴿٣٩﴾

၃၉။ ကေန်မလွဲ မနုဿလူသားၖ ၎င်း၏ကြိုးပမ်း ဆောင်ရွက်ချက်သာလျှင် ရှိမည်ဟူ၍လည်းကောင်း၊

وَأَنَّ سَعْيَهُ سَوْفَ يُرَىٰ ﴿٤٠﴾

၄၀။ မုချကေန် ထိုမနုဿလူသား၏ ကြိုးပမ်း ဆောင်ရွက်ချက်မှာ မကြာမြင့်မီပင် တွေ့မြင်ရမည်ဟူ၍ လည်းကောင်း၊

ثُمَّ يُجْزَاهُ الْجَزَاءَ الْأَوْفَىٰ ﴿٤١﴾

၄၁။ ထို့နောက် ထိုမနုဿ လူသားသည် ယင်း ကြိုးပမ်းမှုနှင့်စပ်လျဉ်း၍ လွန်စွာပြည့်စုံသော အစား ပေးခြင်းကို ခံရမည်ဟူ၍ လည်းကောင်း၊ (သတင်းပေး ခြင်း မခံခဲ့ရလေသလော)။

وَأَنَّ إِلَىٰ رَبِّكَ الْمُنتَهَىٰ ﴿٤٢﴾

၄၂။ ၎င်းပြင် (အို-နဗီတမန်တော်၊) ကေန်အမှန် လမ်းဆုံးမှာ အသင့်အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်အထံတော်၌ဖြစ်သည်ဟူ၍လည်းကောင်း၊ [၂]

وَأَنَّهُ هُوَ أَضْحَكَ وَأَبْكَىٰ ﴿٤٣﴾

၄၃။ စင်စစ်ကေန် ထိုအရှင်မြတ်သည်ပင် ရယ်စေ တော်မူသည်၊ ငိုကြွေးစေတော်မူသည်ဟူ၍လည်းကောင်း၊

---

(၁) ဆိုလိုသည်ကား- လူတိုင်းသည် မိမိဆည်းပူးသမျှကို ရရှိမည်သာဖြစ်သည်။ မိမိ ဆည်းပူးထားသည့် ကောင်းကျိုးကို သူတစ်ပါးက ယူနိုင်သည်မရှိ။ သို့ရာတွင် တစ်ဦးတစ်ယောက်သည် မိမိ ဆည်းပူးထားသည့် အချို့ကောင်းကျိုးကို မိမိစေတနာအလျောက် သူတစ်ပါးအား လွှဲပြောင်းပေးသော်၊ အလ္လာဟ်အရှင်မြတ်ကလည်း ယင်းသို့ ပြောင်းလွှဲပေးခြင်းကို သဘောတူတော်မူပါသော်၊ ဤကား တစ်ဘာသာပင်။ ဤအကြောင်း ဟဒီးဆ် ဩဝါဒတော်များတွင်လည်းကောင်း၊ ဖိကဟ် ဓမ္မသတ်ကျမ်းကြီးများတွင်လည်းကောင်း အကျယ်လာရှိပေသည်။

(၂) **အလ္လာဟ်အရှင်မြတ်ထံ ပြန်လည်ရောက်ရမည်သာ။**

ဆိုလိုသည်ကား – အချို့လူသားများသည် ယနေ့ အလ္လာဟ်အရှင်မြတ်အား အဘယ်မျှပင် သွေဖည် ကျောခိုင်းနေကြလင့်ကစား၊ နက်ဖြန် ကိယာမတ်နေ့တွင် အားလုံးတို့သည် ထိုအရှင်မြတ် ရှေ့တော်မှောက်သို့ ပြန်လည်ရောက်ရှိကြရမည်သာ။ ကျိုး-ပြစ် ခံ-စံ ကြရမည်သာ။ လူသားတို့သည် ဤသည့် တစ်ခုတည်းသော အချက်ကိုပင် နှလုံးသွင်းထားနိုင်ပါက အရေးကိစ္စ အဝဝတွင် အလိုအလျောက် ဖြောင့်မတ်သွားကြပေမည်။

وَأَنَّهُۥ هُوَ أَمَاتَ وَأَحْيَا ﴿٤٤﴾

၄၄။ ထိုအရှင်မြတ်သည် မချွတ်မလွဲ သေစေတော်မူသည်၊ ရှင်စေတော်မူသည်ဟူ၍လည်းကောင်း၊

وَأَنَّهُۥ خَلَقَ ٱلزَّوْجَيْنِ ٱلذَّكَرَ وَٱلْأُنثَىٰ ﴿٤٥﴾

၄၅။ ဧကန်စင်စစ် ထိုအရှင်မြတ်သည်ပင် ဖိုနှင့်မ နှစ်မျိုးနှစ်စားလုံးကို ဖန်ဆင်းတော်မူခဲ့သည် ဟူ၍ လည်းကောင်း၊

مِن نُّطْفَةٍ إِذَا تُمْنَىٰ ﴿٤٦﴾

၄၆။ ကလလရေကြည်ဖြင့်၊ ယင်းကလလရေကြည်သည် သွန်းလောင်းခြင်းခံရသောအခါ၊

وَأَنَّ عَلَيْهِ ٱلنَّشْأَةَ ٱلْأُخْرَىٰ ﴿٤٧﴾

၄၇။ ထိုမှတစ်ပါး မုချစင်စစ် ဒုတိယအကြိမ် ဖန်ဆင်းမှုသည် ထိုအရှင်မြတ်၏တာဝန်ပင် ဖြစ်သည်ဟူ၍ လည်းကောင်း၊

وَأَنَّهُۥ هُوَ أَغْنَىٰ وَأَقْنَىٰ ﴿٤٨﴾

၄၈။ အမှန်ဧကန် ထိုအရှင်မြတ်သည် ကုံလုံကြွယ်ဝ စေတော်မူသည်၊ ဆင်းရဲနွမ်းပါးစေ- ဥစ္စာပစ္စည်း ချီးမြှင့်ပေးသနား တည်မြဲစေတော်မူသည်ဟူ၍ လည်းကောင်း၊ [၁]

وَأَنَّهُۥ هُوَ رَبُّ ٱلشِّعْرَىٰ ﴿٤٩﴾

၄၉။ အမှန်စင်စစ် ထိုအရှင်မြတ်သည်ပင် 'ရှစ်အ်ရာ' (လုဒ္ဒက)ကြယ်ကို ဖန်ဆင်းတော်မူသော အရှင်မြတ် ဖြစ်တော်မူသည် ဟူ၍လည်းကောင်း၊ [၂]

---

(၁) ဆိုလိုသည်ကား အလ္လာဟ်အရှင်မြတ်သည်ပင် ကုံလုံကြွယ်ဝစေတော်မူသည်။ ထိုအရှင်မြတ်သည်ပင် ဥစ္စာပစ္စည်း ချီးမြှင့်၍ တိုးပွားစေတော်မူသည်။ တည်မြဲစေတော်မူသည်။ အချို့က ဤအာယတ်တော်တွင်ပါရှိသည့် (أَقْنَىٰ) 'အာကနာ' ဟူသော ပုဒ်ကို 'ထိုအရှင်မြတ်သည် ဆင်းရဲနွမ်းပါးစေတော်မူသည်' ဟူ၍ အနက် ပြန်ကြသည်။

ဆိုလိုသည်ကား- ချမ်းသာကြွယ်ဝမှု၊ ဆင်းရဲနွမ်းပါးမှုသည်လည်း ထိုအရှင်မြတ်၏ စီရင် ဖန်တီးမှုသာလျှင် ဖြစ်ချေသည်ဟူ၏။ အထက်တွင် ဆန့်ကျင်ဘက်ပစ္စည်း အမျိုးမျိုး အစားစားကို ဖန်ဆင်းထားတော်မူသည့် အကြောင်း ပါရှိခဲ့ပေရာ၊ ဤအနက်သည်လည်း သင့်မြတ်လှပေသည်။

ရှေ့တွင် သွေဖည်သောင်းကျန်းခဲ့ကြသည့် မနရှင်၊ အာဏာရှင်၊ မာနရှင်များကို ကွပ်မျက်တော်မူသည့် အကြောင်း ပါရှိနေပေရာ၊ အထက်ပါ ပထမအနက်သည်လည်း သူ့နေရာနှင့်သူ သင့်မြတ်သည်သာ ဖြစ်ပေသည်။

وَأَنَّهُۥٓ أَهۡلَكَ عَادًا ٱلۡأُولَىٰ ۝٥٠

၅၀။ မလွဲဧကန်ထိုအရှင်မြတ်သည်ပင် ပထမ'အာဒ်' အမျိုးသားတို့အား ဖျက်ဆီးတော်မူခဲ့သည်ဟူ၍ လည်းကောင်း၊

وَثَمُودَاْ فَمَآ أَبۡقَىٰ ۝٥١

၅၁။ (ထိုအရှင်မြတ်သည်ပင်) 'ဆမူဒ်' အမျိုးသားတို့အားလည်း (ဖျက်ဆီးတော်မူခဲ့ပေရာ) တစ်ဦးတစ်ယောက်ကိုမျှ ခြွင်းချန်တော်မူခဲ့သည် မဟုတ်ပေ။

وَقَوۡمَ نُوحٖ مِّن قَبۡلُۖ إِنَّهُمۡ كَانُواْ هُمۡ أَظۡلَمَ وَأَطۡغَىٰ ۝٥٢

၅၂။ ထိုနည်းတူစွာ ရှေးအထက်ကျော်ကာလ၌ 'နူဟ်'၏အမျိုးသားတို့အားလည်း (ဖျက်ဆီးတော်မူခဲ့၏)။ ဧကန်စင်စစ် ထို 'နူဟ်' ၏ အမျိုးသားတို့မှာ ပို၍ပို၍ပင် မတရားသောသူများ၊ ပို၍ပို၍ပင် ဆိုးသွမ်းသူများ ဖြစ်ခဲ့ကြကုန်၏။

وَٱلۡمُؤۡتَفِكَةَ أَهۡوَىٰ ۝٥٣

၅၃။ ထို့မှတစ်ပါး ထိုအရှင်မြတ်သည်ပင် ထက်အောက် ပြောင်းပြန်လှန်ပြီးဖြစ်သော ရွာများကိုလည်း ကိုင်ပေါက်တော်မူခဲ့၏။

فَغَشَّىٰهَا مَا غَشَّىٰ ۝٥٤

၅၄။ ထို့နောက် ယင်းရွာများကို ဝန်းဝိုင်း ဖုံးလွှမ်းခဲ့သောအရာသည် ဝန်းဝိုင်း ဖုံးလွှမ်းခဲ့၏။

فَبِأَيِّ ءَالَآءِ رَبِّكَ تَتَمَارَىٰ ۝٥٥

၅၅။ သို့ဖြစ်ပေရာ (အို-ကြားနာသူ၊) အသင်သည် အသင့်အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၏ မည်သည့် ကျေးဇူးတော်များနှင့် စပ်လျဉ်း၍ ဒွိဟသံသယဖြစ်လျက် ရှိသည်နည်း။

---

(၂) 'ရှစ်အ်ရာ' သည် ကြယ်ကြီးတစ်လုံး၏ အမည်ဖြစ်သည်။ (Sirius; Dog - Star) လုဒ္ဒကကြယ်၊ မုဆိုးပုံရှိ လုဒ္ဒက ခေါ် ကောင်းကင်တွင် အတောက်ဆုံးကြယ်ဖြစ်သည်။ အရဗ်၊ မုရှ်ရစ်ကဲတို့သည် ယင်းကြယ်ကို ကိုးကွယ်လေ့ ရှိခဲ့ကြသည်။ ဤကမ္ဘာ၏ ပြောင်းလဲမှုများတွင် ထိုကြယ်ကြီး၏ အရှိန်အဝါ ပါဝင်သည်ဟုလည်း ယူဆခဲ့ကြပေသည်။ ဤအာယတ်တော်တွင် ဖော်ပြမိန့်ဆိုထားတော်မူသည်မှာ 'ရှစ်အ်ရာ' ကြယ်သည် အဘယ်မျှပင် ကြီးလင့်ကစား၊ အဘယ်မျှပင် တောက်ပလင့်ကစား၊ ယင်းကြယ်ကြီး၏ အရှင်သခင်မှာလည်း အလ္လာဟ်အရှင်မြတ်ပင် ဖြစ်တော်မူပေသည်။ 'ရှစ်အ်ရာ' သည် အခြား အဖန်ဆင်းခံများကဲ့သို့ အဖန်ဆင်းခံ တစ်ခုသာလျှင်ဖြစ်ပေသည်။ ကိုးကွယ်ရာမဟုတ်။ အကယ်စင်စစ်ကိုးကွယ်ရာမှကား အလ္လာဟ်အရှင်မြတ်သာလျှင်ဖြစ်တော်မူပေသည်။

هٰذَا نَذِيْرٌ مِّنَ النُّذُرِ الْاُوْلٰى ﴿٥٦﴾

၅၆။ ဤ(တမန်တော်)သည် ရှေးဟောင်း သတိပေး နှိုးဆော်သူတို့တွင် တစ်ပါးအပါအဝင်ဖြစ်၏။

اَزِفَتِ الْاٰزِفَةُ ﴿٥٧﴾

၅၇။ နီးကပ်၍လာသောအရာသည် နီးကပ်၍လာခဲ့လေပြီ။

لَيْسَ لَهَا مِنْ دُوْنِ اللّٰهِ كَاشِفَةٌ ﴿٥٨﴾

၅၈။ ထိုနီးကပ်၍လာသောအရာကို အလ္လာဟ်အရှင်မြတ်မှတစ်ပါး ဖယ်ရှားအံ့သောသူဟူ၍ အလျှင်းမရှိပြီ။

اَفَمِنْ هٰذَا الْحَدِيْثِ تَعْجَبُوْنَ ﴿٥٩﴾

၅၉။ အသင်တို့သည် ဤအာယတ်တော်ကြောင့် အံ့သြ၍ နေကြလေသလော။

وَتَضْحَكُوْنَ وَلَا تَبْكُوْنَ ﴿٦٠﴾

၆၀။ ထို့ပြင် အသင်တို့သည် ငိုကြွေးခြင်းမရှိကြသည့်ပြင် ရယ်မော၍ နေကြလေသလော။

وَاَنْتُمْ سٰمِدُوْنَ ﴿٦١﴾

၆၁။ ထိုမှတစ်ပါး အသင်တို့သည် ဂရုမစိုက်ဘဲ ကစားခုန်စား မာန်မာနထောင်လွှားလျက် ရှိကြလေသလော။

فَاسْجُدُوْا لِلّٰهِ وَاعْبُدُوْا ﴿٦٢﴾ السجدة

၆၂။ သို့ဖြစ်ပေရာ အသင်တို့သည် အလ္လာဟ်အရှင်မြတ် ရှေ့တော်မှောက်ဝယ် 'စဂျဒဟ်' ပျပ်ဝပ်ဦးချကြလေကုန်။ ထိုမှတစ်ပါး အသင်တို့သည် (ထိုအရှင်မြတ်အားသာလျှင်) ကိုးကွယ်ကြလေကုန်။ [၁]

---

(၁) ဆိုလိုသည်ကား- ကိယာမတ်နှင့် ယင်းကိယာမတ်ဖြစ်ပေါ်ရန် အချိန်နီးကပ်လာပြီဖြစ်ကြောင်း ကြားသိရသောအခါ၊ အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ရှိသေခန့်ညားသောအားဖြင့် ငိုကြွေးကြရမည်သာ ဖြစ်သည်။ မိမိတို့၏ လွတ်မြောက်ရေးအတွက် ကြိုးပမ်းကြရမည်သာဖြစ်သည်။ ယခုမူ အသင်တို့သည် ဤအကြောင်းကိုပင် အံ့သြနေကြသည်၊ ပြက်ရယ်ပြုနေကြသည်၊ ရယ်မောနေကြသည်။ အမှန်မှာ အမြော်အမြင်ရှိသူများသည် ဖြစ်ပေါ်လာမည့် အန္တရာယ်ကို လျစ်လျူပြုကာ သွန်သင်ဆုံးမတရားချသည့် စကားများကို ပြက်ချော်သမှု မပြုကြရာ၊ ကျိုးနွံကြရာသည်၊ အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ရှိသေ ခန့်ညားကာ ဦးချကြရာသည်၊ ကိုးကွယ်ကြရာသည်။

**မှတ်ချက်။** တမန်တော်မြတ်သည် ဤကြယ်တာရာကဏ္ဍကို ရွတ်ဖတ်ပြီးနောက် စဂျဒဟ် ပျပ်ဝပ် ဦးချတော်မူခဲ့၏။ မွတ်စ်လင်မ်၊ မုရှ်ရစ်က်၊ ဂျင်န်နှင့် လူသား အားလုံးတို့သည်လည်း ဦးချခဲ့ကြလေသည်။

# စန်းသော်တာ လ ကဏ္ဍ



ဤကဏ္ဍသည် လကဏ္ဍမည်၏။ မက္ကာမြို့တော်၌ ကျရောက်ခဲ့၏။
ဤကဏ္ဍတွင် အာယတ်တော်(၅၅)ပါး၊ (ရုကူအ်) အပိုဒ်သုံးပိုဒ် အသီးသီး ပါရှိ၏။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ

အလွန်တရာ သနားကြင်နာညှာတာတော်မူသော၊
အထူး ကရုဏာပြုတော်မူသော၊
အလ္လာဟ်အရှင်မြတ်၏ နာမံတော်ဖြင့် အစပြုပါ၏။

اِقْتَرَبَتِ السَّاعَةُ وَانْشَقَّ الْقَمَرُ ①

၁။ 'ကိယာမတ်' ရှင်ပြန်ထရန် အချိန်ကာလသည် နီးကပ်၍လာခဲ့ချေပြီ။ ၎င်းပြင် 'လ'သည် (နှစ်ခြမ်း) ကွဲခဲ့လေပြီ။ [၁]

---

(၁) ဆိုလိုသည်ကား - ကိယာမတ်ဖြစ်ရန် အချိန် နီးကပ်လာချေပြီ။ ကိယာမတ်ကို မယုံကြည်က ဒုက္ခကြီးစွာ တွေ့ရမည်။ မကြာမီ ကိယာမတ်ဖြစ်မည့် အကြောင်းနှင့် စပ်လျဉ်း၍ အထောက်အထားလည်း ရှိနေချေပြီ။ ထိုအရာကားအခြားမဟုတ်၊ လ အက်ကွဲသွားခဲ့ခြင်းပင်ဖြစ်သည်။ လင်းပြဦးအံ့ - လကို နှစ်ခြမ်းခွဲပြခြင်းမှာ တမန်တော်မြတ်၏ (မုအ်ဂျိဇဟ်)တန်ခိုးတော်ဖြစ်သည်။ ထိုတန်ခိုးတော်ကို ကြည့်ခြင်းအားဖြင့် တမန်တော်မြတ်သည် အလ္လာဟ်အရှင်မြတ်၏ တမန်တော်တစ်ပါး ဖြစ်ကြောင်း ထင်ရှားသည်။ တမန်တော်၏ စကားတိုင်းသည် မှန်ကန်သည်သာဖြစ်သည်။ သို့ဖြစ်ရာ 'ကိယာမတ်ဖြစ်ရန်အချိန်သည် နီးကပ်လာပြီဖြစ်သည်' ဟူသော တမန်တော်မြတ်၏ စကားသည်လည်း မလွဲမသွေ မှန်ကန်သည်သာဖြစ်သည်။ ကြည့်-ထာနဝီ။

**လကို နှစ်ခြမ်းခွဲပြသည့် တန်ခိုးတော်။**

တမန်တော်မြတ်သည် မဒီနာသို့ (ဟိဂျ်ရတ်) ရွှေ့ပြောင်းမသွားမီ၊ မိနာ၌ တစ်နေ့ ရောက်ရှိနေတော်မူခဲ့၏။ အနီး၌ ကာဖိရ်များလည်း ရှိနေခဲ့ကြ၏။ ကာဖိရ်များက တမန်တော်မြတ်ထံ တန်ခိုး တစ်မျိုးမျိုးပြရန် တောင်းဆိုကြ၏။ ထိုအခါ တမန်တော်မြတ်က ကာဖိရ်များအား အသင်တို့သည် မိုးကောင်းကင်သို့ ကြည့်ရှုကြကုန်ဟု ပြောကြားတော်မူ၏။ အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်ဖြင့် လသည် ရုတ်တရက် နှစ်ခြမ်းကွဲသွားခဲ့၏။ လတစ်ခြမ်းသည် အနောက်ဘက်သို့ ရွေ့လျားသွားခဲ့၏။ အခြားတစ်ခြမ်းသည် အရှေ့ဘက်သို့ ရွေ့လျားသွားခဲ့၏။ ယင်းသို့ လနှစ်ခြမ်းကွဲသွားသည်ကို အားလုံးတို့ တပ်အပ်သေချာ တွေ့မြင်လိုက်ကြပြီးသည့်နောက်တွင်၊ အဆိုပါ လနှစ်ခြမ်းသည် ပြန်လည် ပေါင်းစပ်သွားခဲ့၏။

ကာဖိရ်များသည် ယင်းသို့ လနှစ်ခြမ်းခွဲပြသည့် တန်ခိုးတော်ကို မိမိတို့ကိုယ်တိုင် မျက်ဝါးထင်ထင် တပ်အပ်သေချာ တွေ့မြင်ခဲ့ကြရသော်လည်း၊ 'ကျားကျား မီးယပ်' ဆိုသကဲ့သို့၊ ဤသည် ရှေးအစဉ်အလာ ပဥ္စလက်အတတ်သာ ဖြစ်သည်ဟု ပြောဆိုခဲ့ကြလေသည်။

ဤတန်ခိုးတော်ကို 'ရှက္ကုလ်ကမရ်' လနှစ်ခြမ်းခွဲပြသော တန်ခိုးတော်ဟုခေါ်သည်။ ဤတန်ခိုးတော်သည် ကိယာမတ်၏ နိမိတ်လက္ခဏာတစ်ပါးပင်ဖြစ်သည်။ ဆိုလိုသည်ကား-လနှစ်ခြမ်းကွဲသွားသည့်အလား၊ ➤➤

وَاِنۡ يَّرَوۡا اٰيَةً يُّعۡرِضُوۡا وَيَقُوۡلُوۡا سِحۡرٌ مُّسۡتَمِرٌّ ۝٢

၂။ သို့ရာတွင် ၎င်းတို့သည် သက်သေလက္ခဏာ တစ်စုံတစ်ရာကို တွေ့မြင်ကြလျှင် ကျောခိုင်း၍သွား ကြသည့်ပြင် (ဤသည်) အစွန့်ရှည်သော ရှေးအစဉ် အလာဖြစ်သော ပဥ္စလက်အတတ်ပညာဖြစ်သည် ဟူ၍ ပြောဆိုလေ့ ရှိခဲ့ကြကုန်၏။ ၁

وَكَذَّبُوۡا وَاتَّبَعُوۡۤا اَهۡوَآءَهُمۡ وَكُلُّ اَمۡرٍ مُّسۡتَقِرٌّ ۝٣

၃။ ထို့ပြင် ၎င်းတို့သည် မဟုတ်မမှန်ဟူ၍ စွပ်စွဲ ငြင်းပယ်ခဲ့ကြ၍ မိမိတို့၏ အလိုဆန္ဒများကိုသာ လိုက်နာခဲ့ကြကုန်၏။ စင်စစ်သော်ကား အရေးကိစ္စ တိုင်းမှာ (သတ်မှတ်ထားသော အချိန်ကာလတွင်) ဆုံးဖြတ်ပြီး ဖြစ်၏။

وَلَقَدۡ جَآءَهُمۡ مِّنَ الۡاَنۡۢبَآءِ مَا فِيۡهِ مُزۡدَجَرٌ ۝٤

၄။ ထို့ပြင် ၎င်းတို့ထံ ဧကန်မလွဲ သင်ခန်းစာ လုံလောက်စွာပါရှိသော သတင်းများသည် ရောက်ရှိခဲ့ ပေပြီ။

➤➤ ကိယာမတ်ဖြစ်သည့်အခါ အားလုံး ကွဲအက်သွားမည်ဖြစ်သည်။

ဤလနှစ်ခြမ်း ကွဲသွားခဲ့သည့်အကြောင်း ဟဒီးဆ်ကျမ်းကြီးအားလုံးတွင် အခိုင်အမာ လာရှိပေသည်။ တွဟာဝီ၊ အစ်ဗ်နုကဆီရ် စသည့် ပညာရှင်ကြီးများက လနှစ်ခြမ်း ကွဲခဲ့သည့်အကြောင်းနှင့် စပ်လျဉ်း၍ ဟဒီးဆ် ဩဝါဒတော်သည် 'မုတဝါတိရ်' ဖြစ်သည်။ ခေတ်တိုင်းတွင် မြောက်မြားစွာသော ပညာရှင်များက အဆက်မပြတ် ဖွင့်ဟ ဟောပြောခဲ့ကြသည်ဟု အခိုင်အမာ ဆိုထားကြသည်။

① ဤ အာယတ်တော်တွင် ပါရှိသော ( مُسۡتَمِرٌّ ) 'မွတ်စ်တမိရ်ရ်' ဟူသောပုဒ်ကို ပညာရှင်များသည် အမျိုးမျိုး ဘာသာပြန်ဆိုကြသည်။

(၁) မကြာမီ ပြီးဆုံးသွားမည့် အရာ။ ထာနဝီ။

(၂) ရှေးအစဉ်အလာ ဖြစ်သော။ အွတ်ဆ်မာနီ။

(၃) ပျက်စီး ပပျောက်သွားမည့်အရာ၊ မတည်မြဲသောအရာ။ အစ်ဗ်နုကဆီရ်။

(၄) တည်မြဲသော၊ ခိုင်မာသော။ ခါဇင်န်။

ဆိုလိုသည်ကား-လ နှစ်ခြမ်းခွဲပြခဲ့သည့် တန်ခိုးတော်ကို တွေ့မြင်ကြရသောအခါ ကာဖိရ်များက 'အတိတ်ခေတ်များတွင်လည်း ပဥ္စလက်ဆရာများ ပေါ်ခဲ့ကြသည်။ ပဥ္စလက်အတတ်များကို ပြသခဲ့ကြသည်။ သို့ရာတွင် ၎င်းတို့၏ ပဥ္စလက်သည် မတည်မြဲပေ၊ ပျက်စီးသွားခဲ့သည်သာဖြစ်သည်။ ထို့အတူ တမန်တော်မြတ် မုဟမ္မဒ်၏ ပဥ္စလက်သည်လည်း မကြာမီအတွင်း ပျက်စီးသွားမည်သာဖြစ်သည်' ဟု ဆိုခဲ့ကြပေသည်။ တမန်တော်မြတ်သည် ပဥ္စလက်ဆရာမဟုတ်၊ တမန်တော်တစ်ပါး ဖြစ်တော်မူသည်။ တမန်တော်မြတ် ပြသတော်မူခဲ့သော အရာသည် ပဥ္စလက် မဟုတ်၊ တန်ခိုးတော်ဖြစ်သည်။ ဤကား အထင်အရှားပင်။

حِكْمَةٌ بَالِغَةٌ فَمَا تُغْنِ النُّذُرُ ﴿٥﴾

၅။ (ဤကုရ်အာန် ကျမ်းတော်မြတ်သည်) ပြည့်စုံသော နက်နဲသိမ်မွေ့သည့် ဉာဏ်ပညာပင် ဖြစ်ချေသည်။ သို့တစေလည်း (ယင်းသို့သော သူများအား) သတိပေးနှိုးဆော်သော အကြောင်းအရာများသည် အကျိုးရှိစေမည် မဟုတ်ပေတကား။ ၁

فَتَوَلَّ عَنْهُمْ يَوْمَ يَدْعُ الدَّاعِ إِلَىٰ شَيْءٍ نُّكُرٍ ﴿٦﴾

၆။ သို့ဖြစ်ပေရာ (အို-နဗီတမန်တော်၊) အသင်သည် ၎င်းတို့ဘက်မှ မျက်နှာလွှဲ၍ နေပါလေ။ အကြင်နေ့တွင် ဆင့်ခေါ်သူ (ကောင်းကင်တမန်)သည် (၎င်းတို့အား) မနှစ်မြို့ဖွယ်ဖြစ်သော ကိစ္စတစ်ခုသို့ ဆင့်ခေါ်ပေမည်။

خُشَّعًا أَبْصَارُهُمْ يَخْرُجُونَ مِنَ الْأَجْدَاثِ كَأَنَّهُمْ جَرَادٌ مُّنتَشِرٌ ﴿٧﴾

၇။ (ထိုနေ့တွင်) ၎င်းတို့၏မျက်စိများမှာ အောက်သို့စိုက်လျက် ရှိကြပေမည်။ ၎င်းတို့သည် ပျံ့နှံ့လျက်ရှိသော ကျိုင်းကောင်များကဲ့သို့ပင် သင်္ချိုင်းများမှ ထွက်လာကြပေမည်။

مُّهْطِعِينَ إِلَى الدَّاعِ ۖ يَقُولُ الْكَافِرُونَ هَٰذَا يَوْمٌ عَسِرٌ ﴿٨﴾

၈။ ဆင့်ခေါ်သူ(ရှိရာ)သို့ ပြေးလျက်လာကြပေမည်။ 'ကာဖိရ်' သွေဖည်ငြင်းပယ်သောသူတို့မှာ 'ဤနေ့ကား လွန်စွာ ခက်ထန်သောနေ့ဖြစ်သည်' ဟု ပြောဆိုလျက် ရှိကြကုန်အံ့သတည်း။ ၂

(၁) ဆိုလိုသည်ကား- ကုရ်အာန်ကျမ်းမြတ်သည် နက်နဲသိမ်မွေ့သောဆင်ခြင်တုံတရား၊ ဉာဏ်ပညာ၊ အမြော်အမြင်များနှင့် ပြည့်နက်လျက်ရှိပေသည်။ ပုဂ္ဂိုလ်တစ်ဦးသည် ဖြူစင်သောစိတ်ထားဖြင့် ကုရ်အာန်ကျမ်းလာ အာယတ်တော်များကို ဖတ်ရှုလေ့လာဆင်ခြင်ပါက အလွယ်တကူ နားလည်သဘောပေါက်လာနိုင်ပေသည်။ သို့တစေလည်း ဤကာဖိရ်များသည် စိတ်ဓာတ်လွန်စွာခဲယဉ်းနေသည့်အတွက် မည်သည့် အဆုံးအမ၊ မည်သည့် သတိပေးချက်ကိုမျှ ဂရုမမူကြပေ။ ဤရွေ့ဤမျှ စိတ်ဓာတ်ခဲယဉ်းနေသူများနှင့် ပတ်သက်၍၊ တမန်တော်မြတ်သည် တာဝန်ရှိသည့် အတိုင်း ဟောသင့်ဟောအပ်သည်များကို ဟောကြားတော်မူပြီးဖြစ်ပေရာ၊ နောက်ထပ် စိတ်ဒုက္ခခံနေရန် မလိုတော့ပြီ။ ၎င်းတို့အား လျစ်လျူပြုထားတော်မူရမည်သာ။ ၎င်းတို့သည် ကိယာမတ်နေ့တွင် ယခု မောက်မာ ခက်ထန်နေကြသည့် အကျိုးများကို လှလှကြီး ခံစားကြရပေမည်။ ဤသည့်သဘောကို ရှေ့အာယတ်တော်တွင် မိန့်ဆိုထားတော်မူသည်။

كَذَّبَتْ قَبْلَهُمْ قَوْمُ نُوحٍ فَكَذَّبُوا عَبْدَنَا وَقَالُوا مَجْنُونٌ وَازْدُجِرَ ﴿٩﴾

၉။ ၎င်းတို့အလျင် 'နူဟ်'၏ အမျိုးသားတို့သည်လည်း မဟုတ်မမှန်ဟူ၍ စွပ်စွဲ ငြင်းပယ်ခဲ့ကြကုန်၏။ အမှန်သော်ကား ၎င်းတို့သည် ငါအရှင်မြတ်၏ 'ကျွန်တော်' (နူဟ်)အား မဟုတ်မမှန်ဟူ၍ စွပ်စွဲ ငြင်းပယ်ခဲ့ကြသည့်ပြင် 'သူရူး' ဖြစ်သည်ဟူ၍လည်း ပြောဆိုခဲ့ကြကုန်၏။ ထိုမှတစ်ပါး ထို 'နူဟ်'သည် ခြိမ်းခြောက်မှုကိုလည်း ခံခဲ့ရလေ၏။

فَدَعَا رَبَّهُ أَنِّي مَغْلُوبٌ فَانْتَصِرْ ﴿١٠﴾

၁၀။ ထိုအခါ ထို'နူဟ်'သည် ၎င်းအား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်အထံတော်၌ (အို-အရှင်) ဧကန်စင်စစ် ကျွန်တော်မျိုးသည် အရေးမလှသူ (ဖိနှိပ်ခြင်းခံရသူ) ဖြစ်နေပါသည်။ သို့ဖြစ်ပါ၍ အရှင်မြတ်သည် လက်စားချေတော်မူပါဟု ပန်ကြားခဲ့လေ၏။

فَفَتَحْنَا أَبْوَابَ السَّمَاءِ بِمَاءٍ مُنْهَمِرٍ ﴿١١﴾

၁၁။ ထိုအခါ ငါအရှင်မြတ်သည် မိုးကောင်းကင်၏ တံခါးများကိုဖွင့်၍ မိုးသည်းထန်စွာရွာသွန်းစေတော်မူ၏။

وَفَجَّرْنَا الْأَرْضَ عُيُونًا فَالْتَقَى الْمَاءُ عَلَىٰ أَمْرٍ قَدْ قُدِرَ ﴿١٢﴾

၁၂။ ၎င်းပြင် ငါအရှင်မြတ်သည် ပထဝီမြေမှ စမ်းများကို ပန်း၍ထွက်စေတော်မူခဲ့ရာ (ထက်အောက်) ရေသည် တင်ရင်စီမံထားသော အရေးကိစ္စ (ပြည့်ဝစေရန်) ရောစပ်၍ သွားခဲ့လေ၏။

---

(၂) ဆိုလိုသည်ကား-ယနေ့ ခက်ထန်နေကြသော ကာဖိရ်များသည် နက်ဖြန် ကိယာမတ်နေ့တွင် အပျော့ကြီး ပျော့သွားပေမည်။ ယနေ့ ဖိတ်ခေါ်ရာသို့ မလိုက်နာသော ကာဖိရ်များသည်၊ ကိယာမတ်နေ့တွင် အပြေးအလွှား လိုက်ကြပေမည်။ ယနေ့ မောက်မာ ခက်ထန်နေသော ကာဖိရ်များသည် ကိယာမတ်နေ့တွင် အကြောက်ကြီး ကြောက်ကာ မော့၍ပင် ကြည့်ဝံ့ကြမည် မဟုတ်ပေ။ မိမိတို့ တစ်သက်တာလုံး သွေဖည် ငြင်းဆန်နေခဲ့ကြသည်များကို မျက်ဝါးထင်ထင် တွေ့မြင်၍၊ လွတ်မြောက်ရန်လမ်း မရှိသည်ကို သိရှိကြသောအခါ၊ ဤနေ့သည် လွန်စွာ ခက်ထန်ပါဘိတကားဟု ပြောဆို ညည်းညူကြပေမည်။ ဤကား မည်သူမပြု မိမိမှုပင်။

ကာဖိရ်များသည် မိမိတို့ သွေဖည်ခဲ့ကြသည့်အတွက် ကိယာမတ်နေ့တွင် ပြစ်ဒဏ်များကို မလွဲမသွေ ခံစားကြရမည်ဖြစ်သည်။ ဤအကြောင်း အထက်တွင် မိန့်ဆိုထားတော်မူသည်။ သို့ရာတွင် အချို့ များစွာသော ကာဖိရ်များသည် ကိယာမတ်အလျင် ဤပစ္စက္ခမှာပင် ကွပ်မျက်ဖျက်ဆီးခြင်း ခံသွားခဲ့ကြရပေသည်။ ဤအကြောင်းကို ရှေ့အာယတ်တော်များတွင် မိန့်ဆိုထားတော်မူသည်။

وَحَمَلْنٰهُ عَلٰى ذَاتِ اَلْوَاحٍ وَّدُسُرٍ ﴿١٣﴾

၁၃။ ထိုမှတစ်ပါး ငါအရှင်မြတ်သည် ထို 'နူဟ်' အား ပျဉ်ချပ်များဖြင့်လည်းကောင်း၊ သံများဖြင့်လည်းကောင်း၊ ပြုလုပ်၍ထားသော (သင်္ဘော)ပေါ်သို့ စီးနင်းစေတော်မူခဲ့၏။

تَجْرِيْ بِاَعْيُنِنَا جَزَآءً لِّمَنْ كَانَ كُفِرَ ﴿١٤﴾

၁၄။ ယင်းသင်္ဘောမှာ ငါအရှင်မြတ်၏စောင့်ရှောက်မှုအောက်တွင် သွားလာ လှုပ်ရှားလျက် ရှိနေခဲ့၏။ (ထိုသည်ကား) ငြင်းပယ်ခြင်း ခံခဲ့ရသောသူ(နူဟ်)နှင့် ပတ်သက်၍ လက်စားချေတော်မူခြင်းပင် ဖြစ်ပေသည်။

وَلَقَدْ تَّرَكْنٰهَآ اٰيَةً فَهَلْ مِنْ مُّدَّكِرٍ ﴿١٥﴾

၁၅။ ထို့ပြင် ဧကန်မလွဲ ငါအရှင်မြတ်သည် ယင်းအဖြစ်အပျက်ကို (သင်ခန်းစာ ရယူနိုင်ရန်) သက်သေလက္ခဏာတစ်ပါးအဖြစ် ကျန်ရစ်စေတော်မူခဲ့ရာ၊ သင်ခန်းစာရယူအံ့သောသူ တစ်ဦးတစ်ယောက် ရှိလေသလော။[၁]

فَكَيْفَ كَانَ عَذَابِيْ وَنُذُرِ ﴿١٦﴾

၁၆။ သို့ဖြစ်ပေရာ ငါအရှင်မြတ်၏ ပြစ်ဒဏ်သည် လည်းကောင်း၊ ငါအရှင်မြတ်၏ သတိပေးနှိုးဆော်မှု များသည်လည်းကောင်း၊ မည်သို့မည်ပုံ ရှိခဲ့သည်ကို (ဆင်ခြင်သုံးသပ်ကြလေကုန်)။

---

(၁) ဆိုလိုသည်ကား- တမန်တော်နူဟ်(အလိုင်ဟစ္စလာမ်)၏ အမျိုးသားများ၏ဖြစ်ရပ်တွင် စဉ်းစားဆင်ခြင် မြော်မြင်တတ်သူများအဖို့ သင်ခန်းစာ အမြောက်အမြား ပါရှိပေသည်။ တစ်နည်း ယနေ့ကမ္ဘာအရပ်ရပ်တွင် ရှိနေသော သင်္ဘောသားများသည် တမန်တော်နူဟ်၏သင်္ဘောကို ညွှန်ပြလျက်ရှိပေသည်။ တစ်နည်း အချို့၏ ယူဆချက်အရ ဤအာယတ်တော်တွင်ပါရှိသည့် သက်သေလက္ခဏာဟူသည် တမန်တော်နူဟ်၏ သင်္ဘောကိုပင် ဆိုလိုသည်။ အဘယ်ကြောင့်ဆိုသော် တမန်တော်နူဟ်၏သင်္ဘောသည် တမန်တော်နူဟ်၏နောက်တွင်လည်း နှစ်ပရိစ္ဆေဒ အတော်အတန် ကြာသည်အထိ ဂျူဒီတောင်ထိပ်တွင် တည်ရှိနေခဲ့ပေသည်။ ယင်းသည့် ဖြစ်ရပ်ကို ရည်ညွှန်းပြီး အလ္လာဟ်အရှင်မြတ်က 'သင်ခန်းစာယူမည့်သူ တစ်ဦးတစ်ယောက်ရှိသည်လော' ဟူ၍ သတိပေး မေးထားတော်မူသည်။ ဤအကြောင်းနှင့် စပ်လျဉ်း၍ ကုရ်အာန် (၁၁း၃၆-၄၉) တွင် အကျယ် ရေးသားထားခဲ့ပေပြီ။

وَلَقَدْ يَسَّرْنَا الْقُرْاٰنَ لِلذِّكْرِ فَهَلْ مِنْ مُّدَّكِرٍ ⑰

၁၇။ ထိုမှတစ်ပါး ဧကန်မလွဲ ငါအရှင်မြတ်သည် ကုရ်အာန်ကျမ်းတော်မြတ်ကို ကျက်မှတ်တရားရယူနိုင်ရန်အလို့ငှာ လွယ်ကူစေတော်မူခဲ့ရာ ကျက်မှတ်တရားရယူသူ တစ်ဦးတစ်ယောက် ရှိသည်လော။ [၁]

---

① **ကုရ်အာန်သည် လွယ်၏၊ နက်၏။**

ကုရ်အာန်သည် လွယ်လည်း လွယ်လှ၏။ နက်လည်း နက်လှ၏။ ဆိုလိုသည်ကား ကုရ်အာန်ကျမ်းမြတ်မှ တရားရယူလိုသူ တစ်ဦးအဖို့ တရားရယူရန် အလွန် လွယ်ကူလှပေသည်။ အဘယ်ကြောင့်ဆိုသော် ညွှန်ပြမှု၊ လှုံ့ဆော်မှု၊ ကောင်းချီးသတင်းပေးမှု၊ သတိပေးမှုများနှင့် စပ်လျဉ်းသည့် အာယတ်တော်များသည် အလွန်တရာမှုပင် ရှင်းလှ၏။ လင်းလှ၏။ လွယ်ကူလှ၏။ ထိမိလှ၏။ သို့တစေ ဤသည် တရားယူလိုသူအဖို့သာ၊ တရား မယူလိုသူအဖို့မှာကား အလွယ်လည်း အခက်ပင်။ ဆင်ခြေအမျိုးမျိုး တက်ဦးမည်ပင်။

'ငါအရှင်မြတ်သည် မုချဧကန် ကုရ်အာန်ကျမ်းမြတ်ကို တရားရယူနိုင်ရန်အလို့ငှာ လွယ်ကူစေတော်မူထားသည်' ဟူသော အာယတ်တော်ကို သာမန်ကြည့်ပြီး ကုရ်အာန် ကျမ်းမြတ်သည် အလွန်လွယ်ကူသည်၊ မပြောကောင်း မဆိုအပ်၊ ကုရ်အာန်ကျမ်းမြတ်သည် သာမန်ကျမ်းတစ်စောင်မျှဖြစ်သည်၊ သူငါအများ အလွယ်တကူ နားလည်နိုင်သည်၊ ကုရ်အာန်ကျမ်းမြတ်တွင် အလွန်နက်နဲသော အလွန်သိမ်မွေ့သော အဓိပ္ပာယ်၊ အလွန်နက်သော အကြောင်းများ၊ သဘောတရားများ မပါဟူ၍ကား မေ့များ၍မျှ မတွေးအပ်၊ မထင်အပ်၊ မပြောအပ်။

အလ္လာဟ်အရှင်မြတ်သည် အတိုင်းအဆမရှိ တန်ခိုးတော်ရှင် ဖြစ်တော်မူသည်။ အားလုံးသိတော်မူသည်၊ အားလုံး စွမ်းတော်မူသည်၊ အုံ့မဆုံးသည့် စကြာဝဠာကြီးကို အံ့ဖွယ်သရဲ ဖန်ဆင်းထားတော်မူသည်။ စကြာဝဠာကြီး တစ်ခုလုံးကို မဆိုထားနှင့်၊ စကြာဝဠာအတွင်းရှိ အလွန်သေးငယ်လှသော အရာဝတ္ထု ပစ္စည်းတစ်ခု၏ အံ့ဖွယ်သရဲ ရပ်တည်နေပုံ၊ နက်နဲပုံ၊ သိမ်မွေ့ပုံ၊ ဆန်းကျယ်ပုံများကို သုတေသီများသည် သုတေသန ပြုလုပ်ကြသည်နှင့်အမျှ ပို၍ပို၍ ဆန်းကြယ်လာသည်ကိုသာ တွေ့နေရသည်ဖြစ်ရကား၊ ထိုသို့သော အရှင်မြတ်၏ ကျမ်းမြတ်သည် အခြားကျမ်းများနှင့် အသို့လျှင် တူနိုင်အံ့နည်း။ ထိုအရှင်မြတ်၏ အာယတ်တော်များတွင် အလွန့်အလွန်နက်သော၊ အလွန့်အလွန် သိမ်မွေ့သော အကြောင်းများ၊ သဘောတရားများ၊ အသို့လျှင် မပါမရှိ ဖြစ်နိုင်အံ့နည်း။ မုချပါသည်၊ မလွဲမသွေရှိသည်။

ထို့အတွက်ကြောင့်ပင် တမန်တော်မြတ်က (لاتنقضى عجائبه) 'ကုရ်အာန်ကျမ်းမြတ်၏ အံ့ဖွယ်နက်နဲသိမ်မွေ့မှုများသည် ဘယ်သောအခါမျှ ကုန်ဆုံးမည်မဟုတ်' ဟူ၍ မိန့်ကြားတော်မူခဲ့ခြင်း ဖြစ်သည်။ တမန်တော်မြတ်၏မိန့်ကြားချက်ကား မှန်ကန်တိကျလှ၏။ ဤကားမျက်မြင်ပင်။ ကုရ်အာန်ကျမ်းမြတ် စတင်ကျရောက်ခဲ့သည့်အချိန်မှ ယနေ့တိုင် မြောက်မြားစွာသော ပညာရှင် အကျော်အမော်တို့သည် ခေတ်တိုင်းခေတ်တိုင်းတွင် ကုရ်အာန်ကျမ်းမြတ်ကို ရှုထောင့်အမျိုးမျိုးမှ သုတေသန ပြုနေခဲ့ကြ၏။ လေ့လာ ဆည်းပူးနေခဲ့ကြ၏။ ယခုလည်း ဆည်းပူးလျက်ပင်၊ နောင်တွင်လည်း ကိယာမတ်တိုင် ဆည်းပူးနေကြဦးမည်ပင်။

သို့တစေလည်း မဟာသမုဒ္ဒရာဝယ် ယုန်သူငယ် မထောက်နိုင်သကဲ့သို့၊ ကုရ်အာန်ကျမ်းမြတ်၏ အလွန့်အလွန် နက်သည့် နောက်ဆုံးစွန်အနက်ကိုမူ မည်သူမျှ မထောက်နိုင်ခဲ့သေးပေ။

كَذَّبَتْ عَادٌ فَكَيْفَ كَانَ عَذَابِي وَنُذُرِ ⑱

၁၈။ 'အာဒ်' အမျိုးသားတို့သည်လည်း မဟုတ်မမှန် ဟူ၍ စွပ်စွဲငြင်းပယ်ခဲ့ပေရာ ငါအရှင်မြတ်၏ပြစ်ဒဏ် နှင့် ငါအရှင်မြတ်၏ သတိပေး နှိုးဆော်မှုများသည် မည်သို့ရှိခဲ့ပေသနည်း။

إِنَّا أَرْسَلْنَا عَلَيْهِمْ رِيحًا صَرْصَرًا فِي يَوْمِ نَحْسٍ مُّسْتَمِرٍّ ⑲

၁၉။ စင်စစ်ကေန် ငါအရှင်မြတ်သည် ၎င်းတို့အပေါ် ၌ အဖွန့်ရှည်စွာ မင်္ဂလာကင်းမဲ့သောနေ့တွင် ပြင်းထန် လှစွာသော လေပြင်းမုန်တိုင်းကို စေလွှတ်တော်မူခဲ့၏။

تَنزِعُ النَّاسَ كَأَنَّهُمْ أَعْجَازُ نَخْلٍ مُّنقَعِرٍ ⑳

၂၀။ ယင်းလေပြင်းမုန်တိုင်းမှာ လူတို့အား ဆွဲနှုတ်ခဲ့ ရာ ၎င်းတို့သည် အမြစ်မှ ပြုတ်ထွက်ပြိုလဲခဲ့လေသော စွန်ပလွံပင်၏ပင်မကြီးများကဲ့သို့ ဖြစ်သွားခဲ့ကြ၏။ [၁]

فَكَيْفَ كَانَ عَذَابِي وَنُذُرِ ㉑

၂၁။ သို့ဖြစ်ပေရာ ငါအရှင်မြတ်၏ ပြစ်ဒဏ်သည် လည်းကောင်း၊ ငါအရှင်မြတ်၏ သတိပေးနှိုးဆော်မှု များသည်လည်းကောင်း၊ မည်သို့ရှိခဲ့သနည်း။

وَلَقَدْ يَسَّرْنَا الْقُرْآنَ لِلذِّكْرِ فَهَلْ مِن مُّدَّكِرٍ ㉒

၂၂။ ထိုမှတစ်ပါး ကေန်မလွဲ ငါအရှင်မြတ်သည် ကုရ်အာန်ကျမ်းတော်မြတ်ကို ကျက်မှတ်တရားရယူအံ့ သောငှာ လွယ်ကူစေတော်မူခဲ့ရာ ကျက်မှတ်တရားရယူ သူ တစ်ဦးတစ်ယောက် ရှိလေသလော။

كَذَّبَتْ ثَمُودُ بِالنُّذُرِ ㉓

၂၃။ 'ဆမူဒ်'အမျိုးသားတို့သည်လည်း သတိပေး နှိုးဆော်သူတို့အား မမှန်ဟူ၍ စွပ်စွဲငြင်းပယ်ခဲ့ကြ ကုန်၏။ [၂]

---

(၁) အာဒ်အမျိုးသားများသည်လည်း မိမိတို့၏တမန်တော်အား သွေဖည်ဆန့်ကျင်ခဲ့ကြသည့်အတွက် ဤပစ္စက္ခ တွင်ပင် ပြစ်ဒဏ်သင့်၍ ထန်းဆစ်လည်ကျိုး အသေဆိုးနှင့် မရှုမလှ သေကျေ ပျက်စီးသွားခဲ့ကြပေသည်။ အာဒ် အမျိုးသားများအကြောင်း အကြိမ်ကြိမ် ပါရှိခဲ့ပေပြီ။ ကုရ်အာန် (၇:၆၅)တွင် အကျယ်ရေးသားခဲ့ပေပြီ။

(၂) ဆမူဒ်အမျိုးသားများသည်လည်း မိမိတို့၏တမန်တော်အား သွေဖည် ဆန့်ကျင်ခဲ့ကြသည့်အတွက် ဤပစ္စက္ခ မှာပင် ပြစ်ဒဏ်သင့်၍ မရှုမလှ သေကြေပျက်စီးသွားခဲ့ကြရပေပြီ။ ဆမူဒ် အမျိုးသားများအကြောင်း အကြိမ်ကြိမ် ပါရှိခဲ့ပေပြီ။ ကုရ်အာန် (၇:၇၃-၇၉) ၏ အဖွင့်များတွင် အကျယ် ရေးသားခဲ့ပေပြီ။

فَقَالُوٓا أَبَشَرًا مِّنَّا وَاحِدًا نَّتَّبِعُهٗٓ
إِنَّآ إِذًا لَّفِي ضَلٰلٍ وَّسُعُرٍ ﴿٢٤﴾

၂၄။ ထို့ပြင် ၎င်းတို့က ကျွန်ုပ်တို့သည် မိမိတို့ အမျိုးအစားထဲမှဖြစ်သော လူသားတစ်ဦး၏နောက်သို့ လိုက်ကြရမည်လော။ သို့ဖြစ်လျှင် ဧကန်မလွဲ ကျွန်ုပ်တို့သည် လမ်းလွဲမှု၌၊ ထိုမျှမက ရူးသွပ်မှု၌ ကျရောက်သွားကြပေမည်။

ءَاُلْقِيَ الذِّكْرُ عَلَيْهِ مِنْۢ
بَيْنِنَا بَلْ هُوَ كَذَّابٌ اَشِرٌ ﴿٢٥﴾

၂၅။ ကျွန်ုပ်တို့အနက်မှ ၎င်း၏အပေါ်၌သာ (ရွေးကောက်၍) 'ဝဟ်ယ်' အမိန့်တော် ဆုံးမဩဝါဒတော် ချပေးခြင်း ခံခဲ့ရလေသလော။ ထိုသို့ အလျှင်းမဟုတ်။ စင်စစ်မှာကား ၎င်းသည် လွန်စွာမုသားပြောဆိုသူ၊ ဝင့်ကြွားသူပင် ဖြစ်ပေသည်။

سَيَعْلَمُوْنَ غَدًا مَّنِ الْكَذَّابُ
الْاَشِرُ ﴿٢٦﴾

၂၆။ ၎င်းတို့သည် မည်သူ လွန်စွာမုသားပြောဆိုသူ၊ ဝင့်ကြွားသူ၊ ဖြစ်ကြောင်း မကြာမြင့်မီ နက်ဖြန်ပင် သိရှိကြရပေမည်။

اِنَّا مُرْسِلُوا النَّاقَةِ فِتْنَةً لَّهُمْ
فَارْتَقِبْهُمْ وَاصْطَبِرْ ﴿٢٧﴾

၂၇။ ဧကန်အမှန် ငါအရှင်မြတ် ၎င်းတို့အား စမ်းသပ်တော်မူရန် ကုလားအုတ်မကို စေလွှတ်တော်မူအံ့၊ သို့ဖြစ်ပေရာ (အို-နဗီတမန်တော် 'ဆွာလစ်ဟ်'၊) အသင်သည် ၎င်းတို့အား သည်းခံ၍ စောင့်စားပါလေ။

وَنَبِّئْهُمْ اَنَّ الْمَآءَ قِسْمَةٌۢ
بَيْنَهُمْ ۚ كُلُّ شِرْبٍ مُّحْتَضَرٌ ﴿٢٨﴾

၂၈။ ထို့ပြင် အသင်သည် ၎င်းတို့အား ၎င်းတို့(၏ တိရစ္ဆာန်များနှင့်ကုလားအုတ်မ)၏ အကြား၌(အလှည့်ကျသောက်သုံးရန်) ရေခွဲဝေပြီးဖြစ်ကြောင်း၊ အလှည့်အတိုင်း အသီးသီး လာရောက်ကြရမည်ဖြစ်ကြောင်း သတင်းပေးပါလေ။

فَنَادَوْا صَاحِبَهُمْ فَتَعَاطٰى
فَعَقَرَ ﴿٢٩﴾

၂၉။ ထိုအခါ၎င်းတို့သည် မိမိတို့အဖော်အား ဟစ်ခေါ်ခဲ့ရာ ထိုအဖော်သည် လာရောက်ပြီးလျှင် ကုလားအုတ်မ၏ ခြေများကို ဖြတ်တောက်ခဲ့လေ၏။

فَكَيْفَ كَانَ عَذَابِي وَنُذُرِ ۝٣٠

၃၀။ သို့ဖြစ်ပေရာ ငါအရှင်မြတ်၏ ပြစ်ဒဏ်နှင့် ငါအရှင်မြတ်၏ သတိပေးနှိုးဆော်မှုများသည် မည်သို့ ရှိခဲ့ပေသနည်း။

إِنَّا أَرْسَلْنَا عَلَيْهِمْ صَيْحَةً وَاحِدَةً فَكَانُوا كَهَشِيمِ الْمُحْتَظِرِ ۝٣١

၃၁။ စင်စစ်ကေန် ငါအရှင်မြတ်သည် ၎င်းတို့အပေါ်၌ ပြင်းထန်လှစွာသော အသံတစ်ခုကိုသာလျှင် စေလွှတ်တော်မူခဲ့ရာ ၎င်းတို့သည် ကျွဲ၊ နွား၊ တိရိစ္ဆာန်များ နေထိုင်ရန် ခြံခတ်သူ၏ သွေ့ခြောက်ကြေမွနေသော သစ်ကိုင်းသစ်လက်များကဲ့သို့ ဖြစ်သွားခဲ့ကြကုန်၏။

وَلَقَدْ يَسَّرْنَا الْقُرْآنَ لِلذِّكْرِ فَهَلْ مِنْ مُدَّكِرٍ ۝٣٢

၃၂။ ၎င်းပြင် မလွဲကေန် ငါအရှင်မြတ်သည် ကုရ်အာန်ကျမ်းတော်မြတ်ကို ကျက်မှတ် တရားရယူအံ့သော ငှာ လွယ်ကူစေတော်မူခဲ့ရာ ကျက်မှတ် တရားရယူသူ တစ်ဦးတစ်ယောက် ရှိလေသလော။

كَذَّبَتْ قَوْمُ لُوطٍ بِالنُّذُرِ ۝٣٣

၃၃။ 'လူတွ်'၏အမျိုးသားတို့သည်လည်း သတိပေးနှိုးဆော်သူတို့အား မဟုတ်မမှန်ဟူ၍ စွပ်စွဲပြောဆို ငြင်းပယ်ခဲ့ကြကုန်၏။

إِنَّا أَرْسَلْنَا عَلَيْهِمْ حَاصِبًا إِلَّا آلَ لُوطٍ نَجَّيْنَاهُمْ بِسَحَرٍ ۝٣٤

၃၄။ ကေန်အမှန် ငါအရှင်မြတ်သည် ၎င်းတို့အပေါ်၌ ခဲမိုးကို ရွာသွန်းစေတော်မူခဲ့၏။ သို့ရာတွင် လူတွ်၏နောက်လိုက်တပည့်သား မျိုးနွယ်တို့ကိုမူကား ငါအရှင်မြတ်သည် ညဥ့်၏ နောက်ဆုံးယံ၌ပင် လွတ်ကင်းစေတော်မူခဲ့၏။

نِعْمَةً مِنْ عِنْدِنَا كَذَٰلِكَ نَجْزِي مَنْ شَكَرَ ۝٣٥

၃၅။ ငါအရှင်မြတ် အထံတော်မှ ကျေးဇူးပြုတော်မူသောအားဖြင့် ကျေးဇူးသိတတ်သောသူအား ငါအရှင်မြတ်သည် ထိုနည်းအတိုင်းပင် အစားပေးလေ့ ရှိတော်မူ၏။

وَلَقَدْ أَنذَرَهُم بَطْشَتَنَا فَتَمَارَوْا بِالنُّذُرِ ﴿٣٦﴾

၃၆။ စင်စစ်သော်ကား ကေန်မလွဲ ထို 'လူတ်'က ငါအရှင်မြတ် ဖမ်းဆီးအရေးယူတော်မူမည် ဖြစ်ကြောင်း ၎င်းတို့အား သတိပေးနှိုးဆော်ခဲ့သော်လည်း ၎င်းတို့မှာ (ယင်း)သတိပေးနှိုးဆော်မှုများနှင့် စပ်လျဉ်း၍ အငြင်းအခုံ ပြုခဲ့ကြကုန်၏။

وَلَقَدْ رَاوَدُوهُ عَن ضَيْفِهِ فَطَمَسْنَا أَعْيُنَهُمْ فَذُوقُوا عَذَابِي وَنُذُرِ ﴿٣٧﴾

၃၇။ ထိုမှတစ်ပါး ၎င်းတို့သည် ထိုလူတ်၏ ဧည့်သည်များကို ၎င်း၏ထံ၌ (မကောင်းသော ရည်ရွယ်ချက်နှင့်) တောင်းဆိုခဲ့ကြကုန်၏။ သို့ဖြစ်ပေရာ (ငါအရှင်မြတ်သည် ၎င်းတို့၏မျက်စိများကို ကန်းစေတော်မူခဲ့၏။ ထို့နောက် ၎င်းတို့အား) အသင်တို့သည် ငါအရှင်မြတ်၏ ပြစ်ဒဏ်၏ရသာကိုလည်းကောင်း၊ ငါအရှင်မြတ်၏ သတိပေးနှိုးဆော်မှုများ၏ ရသာကိုလည်းကောင်း၊ မြည်းစမ်းကြလေကုန်(ဟု မိန့်ကြားတော်မူခဲ့၏)။ [၁]

وَلَقَدْ صَبَّحَهُم بُكْرَةً عَذَابٌ مُّسْتَقِرٌّ ﴿٣٨﴾

၃၈။ ထိုမှတစ်ပါး ကေန်မလွဲ အခွန့်ရှည်စွာ တည်မြဲအံ့သောငှာ ပြစ်ဒဏ်သည် ၎င်းတို့၌ နံနက်စောစော အချိန်တွင်ပင် သက်ရောက်ခဲ့လေ၏။

فَذُوقُوا عَذَابِي وَنُذُرِ ﴿٣٩﴾

၃၉။ သို့ဖြစ်ပေရာ အသင်တို့သည် ငါအရှင်မြတ်၏ ပြစ်ဒဏ်ကိုလည်းကောင်း၊ ငါအရှင်မြတ်၏ သတိပေးနှိုးဆော်မှုများကို လည်းကောင်း၊ မြည်းစမ်းကြလေကုန် (ဟု မိန့်ကြားတော်မူခဲ့၏။)

---

(၁) တမန်တော် လူတ်(အလိုင်ဟစ္စလာမ်)၏ အမျိုးသားများသည်လည်း တမန်တော် လူတ်အား သွေးဖည် ဆန့်ကျင်ခဲ့ကြသည့်အတွက် ပြစ်ဒဏ်သင့်၍ မျက်ကန်းများ ဖြစ်သွားခဲ့ကြရ၏။ ထို့နောက် ၎င်းတို့၏ မြို့ရွာများ ထက်အောက် ပြောင်းပြန် ဖြစ်သွားခဲ့ကြရ၏။ ထို့ပြင်တစ်ဝ ခဲမိုးများ ရွာသွန်းခြင်းကိုလည်း ခံခဲ့ကြရ၏။
သို့ရာတွင် တမန်တော် လူတ်နှင့်တကွ တမန်တော် လူတ်အား သက်ဝင်ယုံကြည်သော နောက်လိုက်တပည့်သားတို့သည် အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်ဖြင့် ပြစ်ဒဏ်မှ လွတ်မြောက်သွားခဲ့ကြလေသည်။ ဤအကြောင်း ကုရ်အာန်ကျမ်းမြတ်တွင် အကြိမ်ကြိမ် ပါရှိပြီးဖြစ်သည်။

၄၀။ မလွဲကန် ငါအရှင်မြတ်သည် ကုရ်အာန်ကျမ်း
တော်မြတ်ကို ကျက်မှတ် တရားရယူအံ့သောငှာ လွယ်
ကူစေတော်မူခဲ့ပေရာ ကျက်မှတ်တရားရယူသူ တစ်ဦး
တစ်ယောက် ရှိလေသလော။

وَلَقَدْ يَسَّرْنَا الْقُرْآنَ
لِلذِّكْرِ فَهَلْ مِن مُّدَّكِرٍ ﴿٤٠﴾

၄၁။ ထိုမှတစ်ပါး မုချဧကန် 'ဖစ်ရ်အောင်န်' ၏
ခြွေရံသင်းပင်းတို့ထံလည်း သတိပေးနှိုးဆော်ချက်များ
ရောက်ရှိလာခဲ့၏။

وَلَقَدْ جَاءَ آلَ فِرْعَوْنَ النُّذُرُ ﴿٤١﴾

၄၂။ ၎င်းတို့သည် ငါအရှင်မြတ်၏ သက်သေ
လက္ခဏာအလုံးစုံတို့ကို မဟုတ်မမှန်ဟူ၍ စွပ်စွဲ ငြင်း
ပယ်ခဲ့ကြကုန်၏။ သို့ဖြစ်ပေရာ ငါအရှင်မြတ်သည်
၎င်းတို့အား နိုင်နင်းလွှမ်းမိုးတော်မူသော တန်ခိုးနှင့်
ပြည့်စုံတော်မူသောအရှင်၏ ဖမ်းဆီးပုံမျိုးနှင့် ဖမ်းဆီး
အရေးယူတော်မူခဲ့၏။

كَذَّبُوا بِآيَاتِنَا كُلِّهَا
فَأَخَذْنَاهُمْ أَخْذَ عَزِيزٍ مُّقْتَدِرٍ ﴿٤٢﴾

၄၃။ အသင်တို့ခေတ်၌ရှိကုန်သော 'ကာဖိရ်'သွေဖည်
ငြင်းပယ်သူတို့သည် ၎င်းတို့ထက် သာလွန် မြင့်မြတ်ကြ
လေသလော၊ သို့တည်းမဟုတ် ကျမ်းဂန်များ၌ အသင်
တို့အဖို့ လွတ်ငြိမ်းခွင့်ရှိသည်ဟူ၍ လာရှိလေသလော။

أَكُفَّارُكُمْ خَيْرٌ مِّنْ أُولَٰئِكُمْ
أَمْ لَكُم بَرَاءَةٌ فِي الزُّبُرِ ﴿٤٣﴾

၄၄။ သို့တည်းမဟုတ် ၎င်းတို့က 'ကျွန်ုပ်တို့သည်
အောင်နိုင်မှု ရရှိကြအံ့သောအုပ်စုဖြစ်သည်' ဟု ပြောဆို
ကြလေသလော။

أَمْ يَقُولُونَ نَحْنُ جَمِيعٌ
مُّنتَصِرٌ ﴿٤٤﴾

၄၅။ ယင်းအုပ်စုမှာ မကြာမြင့်မီမှာပင် အရေးရှုံးနိမ့်
ကြပြီး ကျောခိုင်း၍ ထွက်ပြေးကြရပေမည်။

سَيُهْزَمُ الْجَمْعُ وَيُوَلُّونَ الدُّبُرَ ﴿٤٥﴾

၄၆။ စင်စစ်မှာကား 'ကိယာမတ်' ရှင်ပြန်ထမည့်
အချိန်ကာလသည် ၎င်းတို့အား ချိန်းချက်ထားသော
ချိန်းချက်မှုဖြစ်၏။ ထိုမှတစ်ပါး 'ကိယာမတ်' ရှင်ပြန်

بَلِ السَّاعَةُ مَوْعِدُهُمْ وَالسَّاعَةُ
أَدْهَىٰ وَأَمَرُّ ﴿٤٦﴾

ထမည့်အချိန်ကာလသည် ပို၍ပင် ပြင်းထန်သည့်ပြင် ပို၍ပင် နာကြည်းဖွယ် ဖြစ်ပေသတည်း။

إِنَّ الْمُجْرِمِينَ فِي ضَلَالٍ وَسُعُرٍ ﴿٤٧﴾

၄၇။ ဧကန်အမှန် ပြစ်မှုကျူးလွန်သူတို့သည် လမ်းလွဲမှု၌လည်းကောင်း၊ ဉာဏ်ကင်းမဲ့မှု၌ လည်းကောင်း၊ ရှိနေကြကုန်၏။

يَوْمَ يُسْحَبُونَ فِي النَّارِ عَلَىٰ وُجُوهِهِمْ ذُوقُوا مَسَّ سَقَرَ ﴿٤٨﴾

၄၈။ ၎င်းတို့သည် မှောက်လျက် ငရဲမီး၌ တရွတ်တိုက် ဆွဲချခြင်းကို ခံကြရသောနေ့တွင် 'အသင်တို့သည်ငရဲမီး ထိရောက်ခြင်း၏ ရသာကို မြည်းစမ်းကြကုန်'(ဟု မိန့်ကြားတော်မူခြင်းကို ခံကြရလတ္တံ့)။ [၁]

إِنَّا كُلَّ شَيْءٍ خَلَقْنَاهُ بِقَدَرٍ ﴿٤٩﴾

၄၉။ ဧကန်မလွဲ ငါအရှင်မြတ်သည် အရာခပ်သိမ်းတို့ကို ချင့်ချိန်၍ ဖန်ဆင်းတော်မူခဲ့၏။

وَمَا أَمْرُنَا إِلَّا وَاحِدَةٌ كَلَمْحٍ بِالْبَصَرِ ﴿٥٠﴾

၅၀။ စင်စစ်သော်ကား ငါအရှင်မြတ်၏ အမိန့်တော်မှာ တစ်ကြိမ်တည်း အမိန့်ပေးရုံကာမျှဖြင့် မျက်စိတစ်မှိတ်အတွင်း ဖြစ်မြောက်သွားပေမည်။ [၂]

---

(၁) ဆိုလိုသည်ကား- အထက်တွင် အတိတ်ခေတ် ကာဖိရ်များကဲ့သို့ပင် လက်ရှိ ကာဖိရ်များလည်း ဤပစ္စုပ္ပန်မှာပင် ပြစ်ဒဏ်သင့်ကြရမည့်အကြောင်း၊ ကိယာမတ်နေ့တွင်မူ မလွဲဧကန် ပြစ်ဒဏ် လုလုကြီး ခံကြရမည့်အကြောင်း သတိပေးထားတော်မူ၏။ သို့တစေလည်း ပြစ်မှု ကျူးလွန်လျက်ရှိသော ကာဖိရ်များသည် အဆိုပါ သတိပေးချက်နှင့် စပ်လျဉ်း၍ အမှားကြီးမှားလျက်ရှိနေကြပေသည်။ အသိတုံးအမြင်တုံး ဉာဏ်တုံးလျက် ရှိကြပေသည်။ အမိုက်မှောင်များတွင် နစ်မွန်းကာ ကမူးရှူးထိုးဖြစ်လျက်၊ မူးမော်လျက် ယစ်မူးလျက် ရှိကြပေသည်။ တုံးတိုက်တိုက် ကမ်းတိုက်တိုက် ရူးမူးဆိုးမိုက်လျက်ရှိကြပေသည်။ သို့ရာတွင် ငရဲမီးတွင်မှောက်လျက် တရွတ်ဆွဲခြင်း ခံကြရပြီး၊ ငရဲမီး၏ရသာကို မြည်းစမ်းကြရသောအခါ၊ မိမိတို့ ဆိုးမိုက်ခဲ့ကြသည့် အမှားများကို ကောင်းကောင်း သိရှိသွားကြပေမည်။

(၂) ဆိုလိုသည်ကား-အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်တည်ရာတွင် အတိုင်းမသိ လျင်မြန်လွန်းလှပေသည်။ ထိုအရှင်မြတ်သည် မိမိဖြစ်စေတော်မူလိုသောအရာကို 'ဖြစ်' ဟု တစ်ကြိမ်တစ်ခါတည်း မိန့်ကြားတော်မူရုံကာမျှဖြင့်၊ ထိုအရာသည် မျက်စိတစ်မှိတ် လျှပ်တစ်ပြက်အတွင်း တစ်မုဟုတ်ခြင်း ဖြစ်ရှိလာပေသည်။ ဒုတိယအကြိမ် ထပ်မံ မိန့်ကြားတော်မူရန် မလိုပြီ။ သို့ဖြစ်ရာ ထိုသို့သော အရှင်မြတ်အဖို့ ကိယာမတ် ဖြစ်စေတော်မူရာတွင် အသို့လျှင် အခက်အခဲ ရှိနိုင်အံ့နည်း။

၅၁။ မချွတ်ဧကန် ငါအရှင်မြတ်သည် အသင်တို့နှင့်ဝါဒတူတို့အား ကွပ်မျက်ဖျက်ဆီးတော်မူခဲ့ရာ တရားရယူသူများဟူ၍ ရှိကြပါသလော။ [၁]

وَلَقَدْ أَهْلَكْنَآ أَشْيَاعَكُمْ فَهَلْ مِن مُّدَّكِرٍ ﴿٥١﴾

၅၂။ စင်စစ်သော်ကား ၎င်းတို့ပြုမူခဲ့သမျှတို့သည် မှတ်တမ်းများ၌လည်း ရှိကုန်၏။

وَكُلُّ شَىْءٍ فَعَلُوهُ فِى ٱلزُّبُرِ ﴿٥٢﴾

၅၃။ ထိုမှတစ်ပါး အကြီးအသေး ဟူသမျှတို့သည် ရေးသား၍ထားရှိပြီး ဖြစ်ကုန်၏။

وَكُلُّ صَغِيرٍ وَكَبِيرٍ مُّسْتَطَرٌ ﴿٥٣﴾

၅၄။ မလွဲဧကန် 'မွတ္တကီ' သူတော်စင်တို့မှာ ဥယျာဉ်များ၌လည်းကောင်း၊ စမ်းချောင်းများ၌လည်းကောင်း၊ ရှိကုန်အံ့။

إِنَّ ٱلْمُتَّقِينَ فِى جَنَّٰتٍ وَنَهَرٍ ﴿٥٤﴾

၅၅။ တန်ခိုးတော်နှင့် ပြည့်စုံတော်မူသော ဘုရင်၏ ထံတော်ပါး၌ မြင့်မြတ်မှန်ကန်သော နေရာဌာနတွင် ရှိကုန်အံ့သတည်း။

فِى مَقْعَدِ صِدْقٍ عِندَ مَلِيكٍ مُّقْتَدِرٍۭ ﴿٥٥﴾

---

(၁) ဆိုလိုသည်ကား -ကာဖိရ်များသည် မိမိတို့ ယခုလက်တွေ့ ကျင့်သုံးနေသော ဝါဒလမ်းစဉ်မှာ အလ္လာဟ်အရှင်မြတ် မနှစ်သက်တော်မူသော လမ်းစဉ်မဟုတ်၊ ကိယာမတ် အကယ်စင်စစ်ဖြစ်လင့်ပင်ကစား ငါတို့သည် ပြစ်ဒဏ်ခံကြရမည်မဟုတ်ဟူ၍ကား ထင်မှားမနေကြရာ။ အဘယ်ကြောင့်ဆိုသော် အလ္လာဟ်အရှင်မြတ်သည် လက်ရှိ ကာဖိရ်များနှင့် ဝါဒတူလမ်းစဉ်တူ အတွေးတူအကျင့်တူ ကာဖိရ်များကို ကွပ်မျက်တော်မူခဲ့ချေပြီ။ ဤသည်ကိုထောက်ရှုခြင်းအားဖြင့် လက်ရှိကာဖိရ်များ၏ ဝါဒလမ်းစဉ်ကို အလ္လာဟ်အရှင်မြတ် နှစ်သက်တော်မမူကြောင်း၊ ယင်း ဝါဒလမ်းစဉ်ကို လိုက်နာသူများမှာ ပြစ်ဒဏ် ခံကြရမည်ဖြစ်ကြောင်း ထင်ရှားနေပေသည်။ တရားရယူဖွယ်ရာပင်။ ကြည့်-ကုရ်အာန်(၃၄:၅၄)။

## အထူးကရုဏာတော်ရှင်ကဏ္ဍ




ဤ ကဏ္ဍသည် 'အရ်-ရဟ်မာန်' အထူး ကရုဏာတော်ရှင်ကဏ္ဍ မည်၏။
မက္ကာမြို့တော်၌ ကျရောက်ခဲ့၏။ ဤကဏ္ဍတွင် အာယတ်တော် (၇၈) ပါး၊
ရုကူအ်အပိုဒ် (၃)ပိုဒ် အသီးသီး ပါရှိ၏။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ ○

အလွန်တရာ သနားကြင်နာ ညှာတာတော်မူသော၊
အထူး ကရုဏာတော်ပြုတော်မူသော
အလ္လာဟ်အရှင်မြတ်၏ နာမံတော်ဖြင့် အစပြုပါ၏။

اَلرَّحْمٰنُ ①

၁။ 'ရဟ်မာန်' အထူး ကရုဏာတော်ရှင်ပင်။ [၁]

عَلَّمَ الْقُرْاٰنَ ②

၂။ 'ကုရ်အာန်'ကျမ်းတော်မြတ်ကို သင်ကြားပို့ချတော်မူခဲ့၏။ [၂]

---

(၁) ကုရ်အာန်ကျမ်းမြတ်၏ အစပထမတွင်ပင် အလ္လာဟ်အရှင်မြတ်၏ ဂုဏ်တော်များကို ဖွင့်ရာ၌ ပထမဆုံး ဂုဏ်တော်မှာ ဤ 'ရဟ်မာန်' အထူးကရုဏာတော်ရှင်တည်းဟူသော ဂုဏ်တော်ပင် ဖြစ်သည်။ 'ရဟ်မာန်' ဟူသော ပုဒ်သည် အတိုင်းမသိ သနားကြင်နာတော်မူသော၊ အလွန့်အလွန် ကရုဏာသက်တော်မူသော၊ ဖြူနက် မခြား အားလုံးတို့အား ထောက်ထား ညှာတာတော်မူသောအရှင်၏ အနက်ကိုဟောသည်။ အလ္လာဟ်အရှင်မြတ်၌ ကြီးကျယ်မြင့်မြတ်တော်မူသော ဂုဏ်တော်များရှိသည်။ ယင်းသည့် ဂုဏ်တော်များအနက် ဤသည့် အထူးကရုဏာတော်ရှင် တည်းဟူသော ဂုဏ်တော်ကို အထူးတလည် ဖွင့်ဟ မြွက်ကြားတော်မူခြင်းမှာလည်း အတိုင်းမသိ ကြီးမားလှဘိသော ကရုဏာတော်တစ်ပါးပင်။

(၂) အလ္လာဟ်အရှင်မြတ်သည် (ရဟ်မာန်) အထူးကရုဏာတော်ရှင် ဖြစ်တော်မူသည်။ ဤကဏ္ဍတွင် မိမိ၏ ကျေးဇူးတော်များကို ဖွင့်ဟ မြွက်ကြားထားတော်မူသည်။ ယင်းသည့် ကျေးဇူးတော်များအနက် အကြီးဆုံးနှင့် အမြင့်မြတ်ဆုံး ကျေးဇူးတော်မှာ ကုရ်အာန်ကျမ်းမြတ်ပင်ဖြစ်သည်။

ကုရ်အာန်ကျမ်းမြတ်သည် အစမှ အဆုံးတိုင် ကရုဏာတော်ချည်းသာဖြစ်သည်။ လောကီ လောကုတ္တရာ နှစ်ဘဝဆိုင်ရာ အကောင်းမြတ်ဆုံးတရားဖြစ်သည်၊ အပြည့်အစုံဆုံး တရားဥပဒေလည်းဖြစ်သည်၊ ကောင်းကင်ကျ ကျမ်းဂန်အပေါင်းတို့၏ အချုပ်လည်းဖြစ်သည်။ ဤကျမ်းမြတ်နောက် ကျမ်းဂန်သစ် ကျရောက်ရန် မရှိပြီ၊ မလိုပြီ။

ဤကျမ်းမြတ်သည် ကမ္ဘာတစ်သက် တည်ရှိမည်ဖြစ်သည်။ ယင်းသို့သော ကျမ်းထူး ကျမ်းမြတ်ကို သင်ကြားပို့ချ ပေးတော်မူခြင်းထက် ကြီးကဲမြင့်မြတ်သော ကရုဏာတော်သည် အဘယ်မှာလျှင် ရှိနိုင်အံ့နည်း။ ထို့အတွက်ကြောင့်ပင် ကျေးဇူးတော်များကို ဖွင့်ဟ မြွက်ကြားတော်မူရာတွင်၊ ဤသည့် အမြင့်မြတ်ဆုံးနှင့် အကြီးဆုံး ကျေးဇူးတော်ကို ဦးစွာပထမ စတင်ဖွင့်ဟ မြွက်ကြားတော်မူခြင်းဖြစ်သည်။

خَلَقَ الْإِنسَانَ ﴿٣﴾

၃။ ထိုအရှင်မြတ်သည်ပင် 'မနုဿ' လူသားအား ဖန်ဆင်းတော်မူခဲ့၏။ [၁]

عَلَّمَهُ الْبَيَانَ ﴿٤﴾

၄။ ထိုအရှင်မြတ်သည်ပင် ထိုလူသားအား စကား ပြောဆိုမှုကို သင်ပေးတော်မူခဲ့၏။ [၂]

الشَّمْسُ وَالْقَمَرُ بِحُسْبَانٍ ﴿٥﴾

၅။ 'သူရိယ'နေသည်လည်းကောင်း၊ 'စန္ဒာ' လသည် လည်းကောင်း၊ အတွက်အချက် အချိန်နှင့်ကိုက်ညီစွာ (သွားလာ လှုပ်ရှားလျက်) ရှိကြ၏။ [၃]

وَالنَّجْمُ وَالشَّجَرُ يَسْجُدَانِ ﴿٦﴾

၆။ ကြယ်-ပင်စည်မပါသော အပင်ငယ်များသည် လည်းကောင်း၊ ပင်စည်ပါသော အပင်များသည်လည်း ကောင်း၊ အမိန့်နာခံ ပျပ်ဝပ်ဦးချလျက်ရှိကုန်၏။ [၄]

---

(၁) အလ္လာဟ်အရှင်မြတ်သည် အဖန်ဆင်းခံ အပေါင်းတို့တွင် လူသားကို အမြင့်မြတ်ဆုံး၊ အပြည့်အစုံဆုံး၊ အစုံလင်ဆုံး ဖန်ဆင်းထားတော်မူသည်။ ကမ္ဘာ အိမ်ထောင်စုကြီးတွင် မိမိ၏ခလီဖဟ်(ကိုယ်စားလှယ်) အဖြစ် ခန့်အပ်ထားတော်မူသည်။ ယင်းသို့ လူသားအား မွေးဖွားတော်မူရာတွင် လူသား၏ ကြိုးပမ်းမှုတစ်စုံတစ်ရာ အလျှင်း မပါရှိပေ။ အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်သာလျှင် အရင်းခံဖြစ်ပေသည်။ လူ့ဘဝသည် အလွန်ရခဲလှသည်။ ဤသည်လည်း အတိုင်းမသိ ကြီးမားလှဘိသော ကျေးဇူးတော်တစ်ပါးပင်။

(၂) အလ္လာဟ်အရှင်မြတ်သည် လူသားအား မိမိ၏စိတ်တွင်း၌ရှိသည်တို့ကို သူတစ်ပါးအား နားလည်သဘော ပေါက်အောင် ကောင်းမွန် ရှင်းလင်းပြတ်သားစွာ ထုတ်ဖော်ဖွင့်ဟ ပြောဆိုနိုင်သည့် အံ့မဆုံးသည့် စွမ်းရည်သတ္တိကို လည်း အထူးတလည် ချီးမြှင့်ထားတော်မူသည်။ ယင်းသည့် စွမ်းရည်သတ္တိဖြင့် လူသားသည် အလ္လာဟ်အရှင်မြတ် ၏ တရားတော်များကို မိမိကိုယ်တိုင် သင်ယူသည်၊ သူတစ်ပါးအား သင်ကြားပို့ချသည်။ အဆိုးအကောင်း အမှားအမှန် ယုံကြည်မှု သွေဖည်မှု၊ လောကီ လောကုတ္တရာဆိုင်ရာ စကားများကိုလည်း ကောင်းမွန်စွာ နားလည်သည်၊ နားလည်အောင် ပြောပြနိုင်သည်။

'ဗယာန်' ဟူသောပုဒ်တွင် ဖွင့်ဟ ပြောကြားမှု၊ ရေးသားပြသမှု၊ ညွှန်ပြမှု အားလုံး အကျုံးဝင်ပေသည်။ ဤသည်လည်း အတိုင်းမသိ ကြီးမားလှဘိသော ကျေးဇူးတော်တစ်ပါးပင်။

(၃) ကမ္ဘာအိမ်ထောင်စုကြီးတွင် အထက်ကောင်းကင်၌ လူသားတို့ နေ့၊ ည၌ တွေ့မြင်နေရသော ဝတ္ထုကြီး ၂ ခုမှာ၊ နေနှင့် လပင် ဖြစ်ပေသည်။ နေနှင့် လသည် အလ္လာဟ်အရှင်မြတ် သတ်မှတ်ထားတော်မူသည့် အချင့်အချိန် အတိုင်းအတာနှင့်အညီ စနစ်တကျ အချိန်မှန်မှန် ဝင်ထွက်သွားလာ လှုပ်ရှားလျက်၊ ကမ္ဘာ အိမ်ထောင်စုကြီးအား အကျိုး အမျိုးမျိုးပေးလျက် ရှိကြပေသည်။ ဤသည်လည်း အတိုင်းမသိ ကြီးမားလှဘိသည့် ကျေးဇူးတော်တစ်ပါးပင်။ (ဤအကြောင်းနှင့်စပ်လျဉ်း၍ ကုရ်အာန် (၃၆း၃၈-၄၀)တွင် အကျယ်ရေးသားခဲ့ပေပြီ။

(၄) ကမ္ဘာအိမ်ထောင်စုကြီးတွင် မြေမျက်နှာပြင်၌ ပင်စည်ရှိသော၊ ပင်စည်မရှိသော အပင်ကြီးငယ် ➤➤

وَالسَّمَاءَ رَفَعَهَا وَوَضَعَ الْمِيزَانَ ⑦

၇။ မိုးကောင်းကင်များကို ထိုအရှင်မြတ်သည်ပင် မြင့်စွင့်စေတော်မူခဲ့၏။ [၁] ထိုမှတစ်ပါး ထိုအရှင်မြတ်သည်ပင် ချိန်ခွင်ကို တီထွင်စီစဉ်၍ ပေးတော်မူခဲ့၏။

أَلَّا تَطْغَوْا فِي الْمِيزَانِ ⑧

၈။ အသင်တို့သည် ချိန်တွယ်ရာ၌ မတရားမပြုကြရန်၊ [၂]

وَأَقِيمُوا الْوَزْنَ بِالْقِسْطِ وَلَا تُخْسِرُوا الْمِيزَانَ ⑨

၉။ ထို့ပြင် အသင်တို့သည် ချိန်တွယ်မှုကို တရားမျှတစွာ စောင့်ထိန်းကြရန်လည်းကောင်း၊ ချိန်တွယ်ရာ၌ ယုတ်လျော့စေခြင်း မရှိစေကြရန်လည်းကောင်း၊

وَالْأَرْضَ وَضَعَهَا لِلْأَنَامِ ⑩

၁၀။ ထိုမှတစ်ပါး ပထဝီမြေကို ထိုအရှင်မြတ်သည်ပင် အဖန်ဆင်းခံတို့၏အကျိုးငှာ ထားရှိတော်မူခဲ့၏။

---

➤➤ အသွယ်သွယ်တို့သည်လည်း အလ္လာဟ်အရှင်မြတ်အား ဦးချလျက်ရှိကြပေသည်။ ထိုအရှင်မြတ်၏ စီမံဖန်တီးမှုနှင့်အညီ စနစ်တကျ ပေါက်ရောက်သီးပွင့်လျက် ရှိကြပေသည်။ လူသားတို့အား အကျိုး အမျိုးမျိုး ပေးလျက်ရှိကြပေသည်။ လူသားတို့သည် ယင်းအပင်ကြီးငယ်တို့ကို အမျိုးမျိုး အသုံးပြုလျက်ရှိကြပေသည်။ ဤသည်လည်း အတိုင်းမသိ ကြီးမားလှဘိသော ကျေးဇူးတော်တစ်ပါးပင်။

(၁) မိုးကောင်းကင် အတိုင်းမသိ မြင့်စွင့်လှ၏။ အဘယ်မျှ ကျယ်ဝန်းမြင့်စွင့်သည်ကို မည်သူမျှမသိ၊ ယင်း မိုးကောင်းကင်များတွင် မြားမြောင်လှသော ဂြိုဟ်တာရာများ အံ့ဖွယ်သရဲသွားလာ လှုပ်ရှားနေသည်မှာလည်း ရှုမငြီးပင်။ ယနေ့လူသားတို့သည် အထက်ကောင်းကင်တွင် လေယာဉ်ပျံကြီးငယ်များဖြင့် ပျံသန်းသွားလာလျက် ရှိကြ၏။ ဂြိုလ်တု ကြီးငယ်များကို ပစ်လွှတ်လျက်ရှိကြ၏။ ဤသည် အလ္လာဟ်အရှင်မြတ်၏ ခြယ်လှယ်စီမံမှုပင်။ ဤသည်လည်း အတိုင်းမသိ ကြီးမားလှဘိသော ကျေးဇူးတော်တစ်ပါးပင်။

(၂) 'မီဇာန်' ၏မူရင်းအနက်မှာ ချိန်တွယ်ရသော ကိရိယာ ချိန်ခွင်ဟူ၍ ဖြစ်၏။ အများအားဖြင့် အတိတ်ခေတ် အာလင်မ်ပညာရှင်များက ဤအာယတ်တော်တွင် 'မီဇာန်' ကို တရားမျှတစွာပြုလုပ်ခြင်းအနက်၌ ယူဆခဲ့ကြသည်။

ဆိုလိုသည်ကား - အလ္လာဟ်အရှင်မြတ်သည် မိုးမြေတွင်ရှိ အရာခပ်သိမ်းတို့ကို တရားမျှတမှု၏ အခြေခံပေါ်၌ အတိုင်းမသိ ကြီးကဲမြင့်မြတ်လှသည့် အတိုင်းအတာ အချိန်အတွယ်အမှန်ဖြင့် စီမံဖန်တီးထားတော်မူသည်။ ဤသည့်တရားမျှတမှုအပေါ်၌ပင် စကြာဝဠာကြီးတစ်ခုလုံး ရပ်တည်လျက်ရှိပေသည်။ ဤသည့် တရားမျှတမှု မရှိပါက စကြာဝဠာကြီးတစ်ခုလုံးသည် ပျက်ပြုန်းဆိတ်သုဉ်းသွားပေမည်။ ဤသည်ကို ရည်၍ တမန်တော်မြတ်ကလည်း 'ဤမိုး ဤမြေများသည် ဤသည့်မျှတမှုကြောင့်ပင် ရပ်တည်လျက်ရှိပေသည်' ဟု မိန့်ကြားတော်မူခဲ့ပေသည်။

فِيهَا فَاكِهَةٌ وَالنَّخْلُ ذَاتُ الْأَكْمَامِ ﴿١١﴾

၁၁။ ယင်းပထဝီမြေ၌ သစ်သီးဝလံများသည်လည်းကောင်း၊ အစွပ်များဖြင့် ငုံ-ညှာတံများဖြင့်အုပ်လျက်ရှိသော စွန်ပလွံပင်များသည်လည်းကောင်း၊

وَالْحَبُّ ذُو الْعَصْفِ وَالرَّيْحَانُ ﴿١٢﴾

၁၂။ ဖွဲနုပါသော ကောက်ပဲသီးနှံများသည်လည်းကောင်း၊ အရွက်ရှိသောအစေ့များသည်လည်းကောင်း၊ မွှေးကြိုင်လျက်ရှိသော ပန်းများ အစာအာဟာရများသည်လည်းကောင်း၊ ရှိကုန်၏။

فَبِأَيِّ آلَاءِ رَبِّكُمَا تُكَذِّبَانِ ﴿١٣﴾

၁၃။ သို့ပါလျက် (အိုဂျင်န်နှင့်လူသတ္တဝါအပေါင်းတို့)၊ အသင်တို့သည် မိမိတို့အား ဖန်ဆင်း မွေးမြူတော်မူသော အရှင်မြတ်၏ မည်သည့်ကျေးဇူးတော်များကို မဟုတ်မမှန်ဟူ၍ ငြင်းပယ်ကြကုန်အံ့နည်း။ ၁

خَلَقَ الْإِنْسَانَ مِنْ صَلْصَالٍ كَالْفَخَّارِ ﴿١٤﴾

၁၄။ ထိုအရှင်မြတ်သည်ပင် 'မနုဿ' လူသားအား မြေအိုး-အိုးခြမ်းကွဲပမာ အသံမည်သော ရွှံ့ခြောက်ဖြင့် ဖန်ဆင်းတော်မူခဲ့၏။

---

(၁) အထက်ပါ အာယတ်တော်များတွင်အလ္လာဟ်အရှင်မြတ်သည် မိမိ၏ အလွန့်အလွန်ကြီးကျယ်မြင့်မြတ်သော၊ အံ့မဆုံးနိုင်သော အချို့ ကျေးဇူးတော်များနှင့် တန်ခိုးတော်များကို မိန့်ဆိုထားတော်မူသည်။ သို့မိန့်ဆိုတော်မူပြီးနောက် လူနှင့် ဂျင်န်အုပ်စုကြီး ၂-ခုလုံးအား အသင်တို့ အုပ်စု-၂ခုသည် မိမိတို့အရှင်သခင်၏ ကျေးဇူးတော်များအနက် အဘယ်မည်သော ကျေးဇူးတော်ကို ငြင်းပယ်ဝံ့ကြအံ့နည်း' ဟု မေးမြန်းထားတော်မူသည်။ ဆိုလိုသည်ကား အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်များအနက် အဘယ်ကျေးဇူးတော်မျှပင် ငြင်းပယ်ဖွယ်ရာ အလျှင်းမရှိပြီ။

တမန်တော်မြတ်သည် ဂျင်န်များရှေ့တွင် ဤကဏ္ဍကို ရွတ်ဖတ်ပြတော်မူသည့်အခါ ဤအာယတ်တော်ကို ရွတ်ဖတ်တော်မူသည့် အခါတိုင်းတွင် ဂျင်န်များက ( لابشى ء من نعمك ربنا نكذب فلك الحمد ) 'အို-ကျွန်တော်မျိုး၏အရှင်၊ ကျွန်တော်မျိုးတို့သည် အရှင်မြတ်၏ ကျေးဇူးတော်များအနက် အဘယ်တစ်စုံတစ်ရာကိုမျှ ငြင်းပယ်ဝံ့ကြသည်မရှိပါ။ ခပ်သိမ်းကုန်သော ချီးမွမ်းထောမနာခြင်းအပေါင်းသည် အရှင်မြတ်နှင့်သာလျှင် ထိုက်တန်ပါဘိသည်' ဟု ဖွင့်ဟဝန်ခံလျှောက်ထားခဲ့ကြလေသည့်အကြောင်း၊ ဟဒီးဆ်သြဝါဒတော်တစ်ပါးတွင် လာရှိပေသည်။

ဤသည့် သြဝါဒတော်ကို ထောက်ချင့်၍ မည်သူမဆို ဤအာယတ်တော်ကို ရွတ်ဖတ်သည့်အခါ ကြားနာရသည့်အခါ အထက်တွင် ဖော်ပြပါ ဂျင်န်များနည်းတူ ဖွင့်ဟဝန်ခံလျှောက်ထားအပ်ကြောင်း အာလင်မ်ပညာရှင်များက ဖွင့်ဆိုရေးသားခဲ့ကြလေသည်။ (ကြည့်-အွတ်ဆ်မာနီ၊ အစ်ဗ်နကဆီရ်)

وَخَلَقَ الْجَآنَّ مِنْ مَّارِجٍ مِّنْ نَّارٍ ﴿١٥﴾
၁၅။ ထိုမှတစ်ပါး ထိုအရှင်မြတ်သည်ပင် ဂျင်န်သတ္တဝါတို့ကို ဂျင်န်သတ္တဝါတို့၏ဖခင် 'အစ်ဗ်လီစ်'ကို မီးခဲမီးခိုးမရှိသောမီးတောက်ဖြင့် ဖန်ဆင်းတော်မူခဲ့၏။

فَبِأَيِّ آلَاءِ رَبِّكُمَا تُكَذِّبَانِ ﴿١٦﴾
၁၆။ သို့ပါလျက် (အို-ဂျင်န်နှင့် လူသတ္တဝါတို့)၊ အသင်တို့သည် မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၏ မည်သည့်ကျေးဇူးတော်များကို မဟုတ်မမှန်ဟူ၍ ငြင်းပယ်ကြအံ့နည်း။

رَبُّ الْمَشْرِقَيْنِ وَرَبُّ الْمَغْرِبَيْنِ ﴿١٧﴾
၁၇။ (ထိုအရှင်မြတ်သည်ပင်) နေထွက်ရာအရပ်နှစ်ခုလုံးကို ဖန်ဆင်းတော်မူသောအရှင်၊ နေဝင်ရာအရပ်နှစ်ခုလုံးကို ဖန်ဆင်းတော်မူသောအရှင်ဖြစ်တော်မူ၏။[၁]

فَبِأَيِّ آلَاءِ رَبِّكُمَا تُكَذِّبَانِ ﴿١٨﴾
၁၈။ သို့ပါလျက် (အို-ဂျင်န်နှင့် လူသတ္တဝါတို့)၊ အသင်တို့သည် မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၏ မည်သည့်ကျေးဇူးတော်များကို မဟုတ်မမှန်ဟူ၍ ငြင်းပယ်ကြအံ့နည်း။

مَرَجَ الْبَحْرَيْنِ يَلْتَقِيَانِ ﴿١٩﴾
၁၉။ ထိုအရှင်မြတ်သည်ပင် သမုဒ္ဒရာပင်လယ်နှစ်ခုကို လွှတ်တော်မူခဲ့ရာ ထိုသမုဒ္ဒရာ ပင်လယ်နှစ်ခုမှာ ဆုံဆည်း ဆက်စပ်လျက်ရှိကြ၏။ (တစ်နည်း) ထိုအရှင်မြတ်သည်ပင် ဆက်စပ် စီးဆင်းလျက်ရှိသော သမုဒ္ဒရာနှစ်ခုကို လွှတ်တော်မူခဲ့၏။

---

(၁) ဆောင်းဥတု၊ နွေဥတုများတွင် နေထွက်ရာအရပ် ၂-ခု၊နေဝင်ရာအရပ် ၂-ခု ပြောင်းလဲလျက်ဖြစ်ရှိနေသည်မှာ အထင်အရှားပင် ဤသည်ကိုရည်၍ ဤအာယတ်တော်တွင် နေထွက်ရာ အရပ်၂-ခု၏အရှင်၊ နေဝင်ရာအရပ် ၂-ခု၏အရှင်ဟု မိန့်ဆိုထားတော်မူခြင်းဖြစ်သည်။

အချို့က ဤအာယတ်တော်တွင်ပါရှိသော အရှေ့ ၂-ခု၊ အနောက်၂-ခု ဟူသည် နေနှင့်လထွက်ရာ အရပ် ၂-ခုနှင့် နေနှင့်လ ဝင်ရာအရပ် ၂-ခုကို ဆိုလိုသည်ဟု ဖွင့်ဆိုကြသည်။ (ကြည့်မာဂျိဒီ၊ ကဗီရ်)။

အသို့ရှိစေ ယင်းသို့ နေ၊ သို့မဟုတ် နေနှင့်လ ထွက်ဝင်သွားလာလှုပ်ရှားရာတွင် အရပ်ဒိသာ ပြောင်းလဲနေသည့်အတွက် ဥတုရာသီ အမျိုးမျိုး ပြောင်းလဲလျက်ရှိပေသည်။အပူအအေးအမျိုးမျိုးပြောင်းလဲလျက်ရှိပေသည်။ ယင်းသို့ ဥတုရာသီ ပြောင်းလဲနေသည့်အလျောက် လူသားတို့သည် အကျိုးအမျိုးမျိုး ခံစားလျက်ရှိကြပေသည်။ ဤသည်လည်း အတိုင်းမသိ ကြီးမားဘိသော တန်ခိုးတော်နှင့် ကျေးဇူးတော်ပင်။

بَيْنَهُمَا بَرْزَخٌ لَّا يَبْغِيَانِ ﴿٢٠﴾

၂၀။ ယင်းပယ်လယ်နှစ်ခု၏အကြား၌ အဆီးအတား တစ်ခု ရှိနေပေရာ ၎င်းတို့နှစ်ခုလုံး ပိုင်နက်ကျူးလွန် နိုင်ကြသည် မရှိပေ။ [၁]

فَبِأَيِّ آلَاءِ رَبِّكُمَا تُكَذِّبَانِ ﴿٢١﴾

၂၁။ သို့ပါလျက် (အို-ဂျင်န်နှင့် လူသတ္တဝါတို့၊) အသင်တို့သည် မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူ သော အရှင်မြတ်၏ မည်သည့်ကျေးဇူးတော်များကို မဟုတ်မမှန်ဟူ၍ ငြင်းပယ်ကြအံ့နည်း။

يَخْرُجُ مِنْهُمَا اللُّؤْلُؤُ وَالْمَرْجَانُ ﴿٢٢﴾

၂၂။ ယင်းပင်လယ်နှစ်ခုမှ ပုလဲရတနာများသည် လည်းကောင်း၊ သန္တာ ပင်လယ်ထွက် ကျောက်နီများ သည်လည်းကောင်း၊ ထွက်ကြပေသည်။

فَبِأَيِّ آلَاءِ رَبِّكُمَا تُكَذِّبَانِ ﴿٢٣﴾

၂၃။ သို့ပါလျက် (အို-ဂျင်န်နှင့် လူသတ္တဝါတို့) အသင်တို့သည် မိမိတို့အား မွေးမြူဖန်ဆင်းတော်မူ သော အရှင်မြတ်၏ မည်သည့်ကျေးဇူးတော်များကို မဟုတ်မမှန်ဟူ၍ ငြင်းပယ်ကြအံ့နည်း။

وَلَهُ الْجَوَارِ الْمُنْشَآتُ فِي الْبَحْرِ كَالْأَعْلَامِ ﴿٢٤﴾

၂၄။ သမုဒ္ဒရာပင်လယ်၌ တောင်များပမာ(မားမား မတ်မတ်) ရပ်တည်နေကြသော၊ အထင်အရှား ရှိနေ ကြသော၊ သင်္ဘောများမှာလည်း ထိုအရှင်မြတ်၏ အာဏာစက်အတွင်း၌ ရှိကုန်၏။ [၂]

---

(၁) အလ္လာဟ်အရှင်မြတ်သည် အရောင် အရသာမတူသော ပင်လယ်များမြစ်များကို အံ့ဖွယ်သရဲ ပေါင်းစပ်ထားတော်မူသည်။ သို့ပေါင်းစပ်ထားတော်မူရာတွင် အမြင်၌ ရေပြင် -၂ခု ပေါင်းစပ်နေသည်ဟု ထင်မြင်ရသော်လည်း၊ ရေပြင် ၂-ခုဆုံမိရာ၌ အလ္လာဟ်အရှင်မြတ်သည် သေးသွယ်သော အရံအတားတစ်ခုကို အံ့ဖွယ်သရဲ ပြုလုပ်ထားတော်မူသည်။ ထို့အတွက်ကြောင့်ပင် ရေကြည်သည် ကြည်လျက်ပင်၊ ရေနောက်သည် နောက်လျက်ပင်။ ဤသည်လည်း အတိုင်းမသိ ကြီးမားလှဘိသော တန်းခိုးတော်နှင့်ကျေးဇူးတော်ပင်။

ဤအကြောင်းကို ကုရ်အာန် (၂၅း၅၃၊ ၂၇း၆၁) တွင် ပါရှိခဲ့လေပြီ။ သက်ဆိုင်ရာ အဖွင့်များကိုလည်း အကျယ်ရေးသားခဲ့ပေပြီ။

(၂) သမုဒ္ဒရာပင်လယ်များတွင် သင်္ဘောများသည် တောင်ကြီးများပမာ သွားလာ လှုပ်ရှားလျက်ရှိသည်။ သင်္ဘောများဖြင့် လူသားတို့သည် အကျိုးအမျိုးမျိုး ခံစားလျက်ရှိကြသည်။ 

فَبِأَيِّ آلَاءِ رَبِّكُمَا تُكَذِّبَانِ ﴿٢٥﴾

၂၅။ သို့ပါလျက် (အိုး-ဂျင်န်နှင့် လူသတ္တဝါတို့)၊ အသင်တို့သည် မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၏ မည်သည့်ကျေးဇူးတော်များကို မဟုတ်မမှန်ဟူ၍ ငြင်းပယ်ကြအံ့နည်း။

كُلُّ مَنْ عَلَيْهَا فَانٍ ﴿٢٦﴾

၂၆။ ယင်းပထဝီမြေပေါ်၌ ရှိသမျှတို့သည် (မမြဲ) ပျက်စီးဆိတ်သုဉ်းအံ့သောအရာများပင် ဖြစ်ကုန်၏။

وَيَبْقَىٰ وَجْهُ رَبِّكَ ذُو الْجَلَالِ وَالْإِكْرَامِ ﴿٢٧﴾

၂၇။ စင်စစ်သော်ကား အသင့်အား ဖန်ဆင်းမွေးမြူတော်မူသော၊ တန်ခိုးတော်နှင့် ပြည့်စုံတော်မူသော၊ ကျေးဇူးတော်ရှင်ဖြစ်တော်မူသော၊ *အရှင်မြတ်(တစ်ပါး တည်း)သာလျှင် (ထာဝရ)ကျန်ရှိတော်မူပေမည်။* ၁

فَبِأَيِّ آلَاءِ رَبِّكُمَا تُكَذِّبَانِ ﴿٢٨﴾

၂၈။ သို့ပါလျက် (အိုး-ဂျင်န်နှင့် လူသတ္တဝါတို့)၊ အသင်တို့သည် မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၏ မည်သည့်ကျေးဇူးတော်များကို မဟုတ်မမှန်ဟူ၍ ငြင်းပယ်ကြအံ့နည်း။

---

➤➤ သာမန်အမြင်အားဖြင့် သင်္ဘောများကို လူသားတို့က ပြုလုပ်ကြသည်။ သို့ရာတွင် ထိုလူသားကိုလည်း အလ္လာဟ်အရှင်မြတ်ကပင် ဖန်ဆင်းထားတော်မူသည်။ လူသားအား အသိညဏ်နှင့် စွမ်းရည် သတ္တိများကိုလည်း အလ္လာဟ်အရှင်မြတ်ကပင် ချီးမြှင့်ထားတော်မူသည်။ ယင်းသည့် အသိညဏ်နှင့်စွမ်းရည်သတ္တိများဖြင့် လူသားတို့သည် သင်္ဘောများကို ဆောက်လုပ်ကြသည်ဖြစ်ရာ၊ လူသားတို့နှင့် တကွ၊ လူသားတို့ ပြုလုပ်သမျှသော ပစ္စည်းများကိုလည်း အလ္လာဟ်အရှင်မြတ်သည်ပင် ပိုင်ဆိုင်တော်မူသည် မဟုတ်ပါလော။ ဤသည်လည်း အတိုင်းမသိ ကြီးမားဘိသော တန်ခိုးတော်နှင့် ကျေးဇူးတော်ပင်။

(၁) အလ္လာဟ်အရှင်မြတ်၏ အတိုင်းမသိ ကြီးမားဘိသော ကျေးဇူးတော်များကို ခံစားနေကြရသော လူသားတို့သည် ယင်းသည့် ကျေးဇူးတော်များကိုကြည့်ပြီး ငါတို့သည် ကမ္ဘာမြေပေါ်တွင် အမြဲထာဝစဉ် နေကြရတော့မည်ဟူ၍ကား မထင်မှတ်ကြရာ။ ဤကမ္ဘာရှိ သက်ရှိ သက်မဲ့အရာဝတ္ထုအစုစုတို့သည် သခါ်ရမျှသာ ဖြစ်ကြသည်။ ပျက်စီးဆိတ်သုဉ်းသွားကြရမည်သာ ဖြစ်သည်။ အလ္လာဟ်အရှင်မြတ်တစ်ပါး တည်းသာလျှင် အမြဲထာဝရ တည်ရှိနေတော်မူမည်ဖြစ်သည်။ အရှင်မြတ်သည် အတိုင်းမသိ ကြီးမားလှဘိသော တန်ခိုးတော်နှင့်လည်း ပြည့်စုံတော်မူသည်။ အတိုင်းမသိ ကြီးမားလှဘိသော ကျေးဇူးတော်ရှင်လည်း ဖြစ်တော်မူသည်။ ထိုသည့် ဂုဏ်တော် ၂-ပါးကို ထောက်ချင့်၍ အချို့ပညာရှင်များက တန်ခိုးတော်သည် ကမ္ဘာဆိတ်သုဉ်းမှုကို ရည်ညွှန်းသည်၊ ကျေးဇူးတော်သည် ပြန်လည်ရှင်ထမှုကို ရည်ညွှန်းသည်ဟု အနက်ဖွင့်ကြပေသည်။ ဤသည်လည်း အတိုင်းမသိ ကြီးမားလှဘိသော ကျေးဇူးတော်တစ်ပါးပင်။ ကြည့် -မာဂျိဒီ။

يَسْـَٔلُهٗ مَنْ فِى السَّمٰوٰتِ وَالْاَرْضِ ۭ كُلَّ يَوْمٍ هُوَ فِىْ شَاْنٍ ۚ﴿۲۹﴾

၂၉။ မိုးကောင်းကင်များ၌ ရှိသမျှတို့သည် လည်းကောင်း၊ ပထဝီမြေ၌ ရှိသမျှတို့သည် လည်းကောင်း၊ ထိုအရှင်မြတ်ထံတော်၌သာလျှင် (မိမိတို့၏ အလိုဆန္ဒများကို) တောင်းခံ ကြကုန်၏။ ထိုအရှင်မြတ်သည် နေ့စဉ် အရေးကိစ္စတစ်ခုခုကို ဆောင်ရွက်လျက် ရှိနေတော်မူ၏။ [၁]

فَبِاَيِّ اٰلَاۗءِ رَبِّكُمَا تُكَذِّبٰنِ ﴿۳۰﴾

၃၀။ သို့ပါလျက် (အို-ဂျင်န်နှင့် လူသတ္တဝါတို့)၊ အသင်တို့သည် မိမိတို့အား မွေးမြူဖန်ဆင်းတော်မူသော အရှင်မြတ်၏ မည်သည့်ကျေးဇူးတော်များကို မဟုတ်မမှန်ဟူ၍ ငြင်းပယ်ကြအံ့နည်း။

سَنَفْرُغُ لَكُمْ اَيُّهَ الثَّقَلٰنِ ۚ﴿۳۱﴾

၃၁။ အို-ဂျင်န်နှင့် လူသတ္တဝါအပေါင်းတို့၊ မကြာမြင့်မီပင် *ငါအရှင်မြတ်သည် အသင်တို့ဘက်သို့ လှည့်တော်မူမည်။* [၂]

فَبِاَيِّ اٰلَاۗءِ رَبِّكُمَا تُكَذِّبٰنِ ﴿۳۲﴾

၃၂။ သို့ပါလျက် အသင်တို့နှစ်ဦးသည် မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၏ မည်သည့်ကျေးဇူးတော်များကို မဟုတ်မမှန်ဟူ၍ ငြင်းပယ်ကြအံ့နည်း။

---

(၁) မိုးမြေရှိ သက်ရှိသက်မဲ့ ခပ်သိမ်းကုန်တို့သည် အလ္လာဟ်အရှင်မြတ်အား တောင့်တ ကြောင့်ကြနေကြရကုန်သည်။ ထိုအရှင်မြတ်ထံတော်၌ပင် မိမိတို့၏ လိုအင်ဆန္ဒအဝဝကို ပန်ကြားလျက် ရှိကြကုန်သည်။ ထိုအရှင်မြတ်သည်လည်း မိမိ၏ ကျေးဇူးတော်ဖြင့် အားလုံးတို့အား ထိုက်တန်သည့် အားလျော်စွာ ဖြည့်တင်းပေးတော်မူလျက်ပင် ရှိတော်မူသည်။ ဤသည်လည်း အတိုင်းမသိ ကြီးမားဘိသော ကျေးဇူးတော်တစ်ပါးပင်။

(၂) ဆိုလိုသည်ကား - အလ္လာဟ်အရှင်မြတ်က အို-လူနှင့် ဂျင်န်များ ငါအရှင်မြတ်သည် မကြာမီအတွင်း ဤပစ္စက္ခဘဝ၏ အရေးကိစ္စအဝဝကို နိဂုံးချုပ်တော်မူအံ့။ နောင်တမလွန်ဘဝကို စတင်တော်မူအံ့။ စာရင်းရှင်းတော်မူအံ့။ ကျိုးပြစ်ပေးတော်မူအံ့ဟု သတိပေးထားတော်မူသည်။ ပြစ်မှုကျူးလွန်လျက်ရှိသူများအား မိမိတို့၏ ပြစ်ဒဏ်မလွဲမသွေ မုချခံကြရမည့် အကြောင်းကို ကြိုတင် သတိပေးတော်မူခြင်းဖြင့် အလွန်ကြီးမားသော ကျေးဇူးတော်ပင်၊ အဘယ့်ကြောင့်ဆိုသော် ယင်းသို့ ကြိုတင် သတိပေးတော်မူခြင်းဖြင့် ပြစ်မှုကျူးလွန်လျက်ရှိသော ပုဂ္ဂိုလ်များသည် မိမိတို့၏ အမှားများကို အချိန်မီပြုပြင်နိုင်ကြပေသည်။ ဝန်ချတောင်းပန်နိုင်ကြပေသည်။ ဤသည်လည်း အတိုင်းမသိ ကြီးမားလှဘိသော ကျေးဇူးတော်တစ်ပါးပင်။

يَٰمَعْشَرَ ٱلْجِنِّ وَٱلْإِنسِ إِنِ ٱسْتَطَعْتُمْ أَن تَنفُذُوا۟ مِنْ أَقْطَارِ ٱلسَّمَٰوَٰتِ وَٱلْأَرْضِ فَٱنفُذُوا۟ ۚ لَا تَنفُذُونَ إِلَّا بِسُلْطَٰنٍ ٣٣

၃၃။ အို–ဂျင်န်နှင့်လူပရိသတ်အပေါင်းတို့၊ အကယ်၍ အသင်တို့သည် မိုးကောင်းကင်များနှင့် ကမ္ဘာမြေ၏ နယ်နိမိတ်များအတွင်းမှ ထွက်သွားနိုင်ကြလျှင် ထွက်သွားကြကုန်လော့။ (စင်စစ်သော်ကား) စွမ်းအားမရှိဘဲလျက် အသင်တို့သည် ထွက်သွားနိုင်ကြမည်မဟုတ်ပေ။

فَبِأَىِّ ءَالَآءِ رَبِّكُمَا تُكَذِّبَانِ ٣٤

၃၄။ သို့ပါလျက် အသင်တို့နှစ်ဦးသည် မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၏ မည်သည့် ကျေးဇူးတော်များကို မဟုတ်မမှန်ဟူ၍ ငြင်းပယ်ကြအံ့နည်း။

يُرْسَلُ عَلَيْكُمَا شُوَاظٌ مِّن نَّارٍ وَنُحَاسٌ فَلَا تَنتَصِرَانِ ٣٥

၃၅။ အသင်တို့နှစ်ဦး၏ အပေါ်ဝယ် မီးခိုးမပါသော မီးတောက်မီးလျှံသည်လည်းကောင်း၊ (မီးမပါသော)အခိုးများသည်လည်းကောင်း၊ စေလွှတ်ခြင်းခံရလတ္တံ့။ ထိုအခါ အသင်တို့သည် ဖယ်ရှားနိုင်ကြမည်မဟုတ်။ [၁]

فَبِأَىِّ ءَالَآءِ رَبِّكُمَا تُكَذِّبَانِ ٣٦

၃၆။ သို့ပါလျက် အသင်တို့နှစ်ဦးသည် မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၏ မည်သည့် ကျေးဇူးတော်များကို မဟုတ်မမှန်ဟူ၍ ငြင်းပယ်ကြအံ့နည်း။

فَإِذَا ٱنشَقَّتِ ٱلسَّمَآءُ فَكَانَتْ وَرْدَةً كَٱلدِّهَانِ ٣٧

၃၇။ စင်စစ်သော်ကား အကြင်အခါဝယ် မိုးကောင်းကင်သည်အက်ကွဲ၍ အသားနီကဲ့သို့နီရဲလာပေမည်။ [၂]

---

(၁) ဆိုလိုသည်ကား ကိယာမတ်နေ့တွင် အပြစ်ရှိသော ဂျင်န်နှင့် လူသားတို့သည် မိမိတို့အပေါ်သို့ အခိုးအငွေ့များ မီးတောက်မီးလျှံများ လွှတ်ခြင်းကိုပင် ခံကြရပေမည်။ အနည်းစိုးစဉ်းမျှ ဖယ်ရှားနိုင်ကြမည်မဟုတ်ပေ။ တုံ့ပြန်လက်စား ချေနိုင်ကြမည်လည်း မဟုတ်ပေ။

အပြစ်ရှိသူကို အပြစ်ရှိသည့်အလျောက် ပြစ်ဒဏ်ခတ်ခြင်းသည်၊ အမိန့်တော်ကို ရှိသေလေးစားကာ ပြစ်မှုကို ကြဉ်ရှောင်သူများအား ကျေးဇူးပြုရာမည်သည်။ ပြစ်ဒဏ်ခတ်သည့် အကြောင်းကို ပြောပြခြင်းသည်လည်း ကျေးဇူးတော်တစ်ပါးပင်။ အဘယ်ကြောင့်ဆိုသော် ယင်းသို့ပြစ်ဒဏ်ခတ်သည့်အကြောင်းကို ကြားသိရသော သူများသည် မိမိတို့ကိုယ်တိုင် အပြစ်ကျူးလွန်ခြင်းမှ ရှောင်ကြဉ်ကြပေမည်။ ဤသည်လည်း အတိုင်းမသိ ကြီးမားလှဘိသော ကျေးဇူးတော်တစ်ပါးပင်။

فَبِاَيِّ اٰلَاۤءِ رَبِّكُمَا تُكَذِّبٰنِ ۝٣٨

၃၈။ သို့ဖြစ်ပါလျက် အသင်တို့နှစ်ဦးသည် မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်၏ မည်သည့်ကျေးဇူးတော်များကို မဟုတ်မမှန်ဟူ၍ ငြင်းပယ်ကြအံ့နည်း။

فَيَوْمَئِذٍ لَّا يُسْـَٔلُ عَنْ ذَنْۢبِهٖۤ اِنْسٌ وَّلَا جَاۤنٌّ ۝٣٩

၃၉။ စင်စစ် ထိုနေ့တွင် မည်သည့်လူ တစ်ဦးတစ်ယောက်မျှလည်းကောင်း၊ မည်သည့်ဂျင်န် တစ်ဦးတစ်ယောက်မျှလည်းကောင်း၊ မိမိအပြစ်နှင့်စပ်လျဉ်း၍ မေးမြန်းခြင်းခံရမည် မဟုတ်ပေ။ ၁

فَبِاَيِّ اٰلَاۤءِ رَبِّكُمَا تُكَذِّبٰنِ ۝٤٠

၄၀။ သို့ပါလျက် အသင်တို့နှစ်ဦးသည် မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၏ မည်သည့်ကျေးဇူးတော်များကို မဟုတ်မမှန်ဟူ၍ ငြင်းပယ်ကြအံ့နည်း။

يُعْرَفُ الْمُجْرِمُوْنَ بِسِيْمٰهُمْ فَيُؤْخَذُ بِالنَّوَاصِيْ وَالْاَقْدَامِ ۝٤١

၄၁။ အပြစ်ရှိသူများမှာ မိမိတို့၏ ရုပ်ရည်လက္ခဏာဖြင့် သိရှိခြင်း ခံကြရပေမည်။ ထိုအခါ ၎င်းတို့သည် (နဖူးများ)ဦးထိပ်များနှင့် ခြေများကို ဆွဲကိုင် ဖမ်းဆီးခြင်းကို ခံကြရပေမည်။

---

(၂) ကိယာမတ်ဖြစ်သည့်အခါ အလွန်သာယာရှုဖွယ်ရာသော မိုးသည် အက်ကွဲသွားပြီး၊ နီရဲနေသော သားရေကဲ့သို့ ကြောက်ဖွယ်လိလိ ရဲရဲနီ အနီချင်းချင်း ဖြစ်သွားပေမည်။ ကမ္ဘာတွင် အပြောင်း အလဲများ ဖြစ်ခြင်းကြီးမက ဖြစ်သွားချိမ့်မည်။ ဤအကြောင်း ကုရ်အာန် (၂၅း၂၅၊ ၆၉း၁၆၊ ၈၄း၁) တွင်လည်း ပါရှိသည်။ ကိယာမတ်နေ့၏ ဖြစ်အင်ကား အတိုင်းမသိ ကြောက်ရွံ့ဖွယ် ကောင်းလှ ဘိတော့၏။ ဤသည်ကို ကြိုတင် သိရှိရခြင်းမှာလည်း အတိုင်းမသိ ကြီးမားလှဘိသော ကျေးဇူးတော်တစ်ပါးပင်။

(၁) ကိယာမတ်နေ့တွင် အလ္လာဟ်အရှင်မြတ်သည် ကျိုးပြစ်ပေးတော်မူရာ၌ ဖြစ်ရပ်မှန်ကို သိရှိရန်အတွက် မည်သူ့ကိုမျှ မေးမြန်းစုံးစမ်းနေတော်မူမည်မဟုတ်ပေ။ ထိုအရှင်မြတ်အဖို့ မေးမြန်း စုံးစမ်းနေတော်မူရန်လည်း မလိုပေ။ အကြောင်းသော် ထိုအရှင်မြတ်သည် အရာခပ်သိမ်းကုန်တို့ကို အကြွင်းမဲ့ သိရှိတော်မူပြီး ဖြစ်သည်။ မေးမြန်းတော်မူခြင်းမှာ- သက်ဆိုင်ရာပုဂ္ဂိုလ်အား သိစေတော်မူရန် အခြားပုဂ္ဂိုလ်များအား သိရှိတော်မူရန် သက်ဆိုင်ရာပုဂ္ဂိုလ်က ပြန်လည်စောဒကမဝင်နိုင်ရန် သို့တည်းမဟုတ်၊ သက်ဆိုင်ရာပုဂ္ဂိုလ်၏ ပြစ်မှု ထင်ရှားသည်ထက် ထင်ရှားစေရန်သာဖြစ်သည်။ (ကြည့် - မာရိဖ်ဒီ)။ ဤသည်လည်း အတိုင်းမသိ ကြီးမားလှဘိသော ကျေးဇူးတော်တစ်ပါးပင်။

၄၂။ သို့ပါလျက် အသင်တို့နှစ်ဦးသည် မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၏ မည်သည့် ကျေးဇူးတော်များကို မဟုတ်မမှန်ဟူ၍ ငြင်းပယ်ကြအံ့နည်း။

فَبِأَيِّ آلَاءِ رَبِّكُمَا تُكَذِّبَانِ ﴿٤٢﴾

၄၃။ (ထိုမှတစ်ပါး ၎င်းတို့သည် မိန့်ကြားတော်မူခြင်းကို ခံကြရပေမည်)။ ဤသည်ပင်လျှင် အပြစ်ရှိသူများ၊ မဟုတ်မမှန်ဟူ၍ ငြင်းပယ်လျက် ရှိခဲ့ကြသော 'ဂျဟန္နမ်' ငရဲ ဖြစ်သည်။

هَٰذِهِ جَهَنَّمُ الَّتِي يُكَذِّبُ بِهَا الْمُجْرِمُونَ ﴿٤٣﴾

၄၄။ ထိုအပြစ်ရှိသူတို့ကား ယင်း'ဂျဟန္နမ်'ငရဲနှင့် ပွက်ပွက်ဆူလျက်ရှိသော ရေနွေးပူ၏အကြား၌ လှည့်ပတ်လျက် နေကြရပေမည်။

يَطُوفُونَ بَيْنَهَا وَبَيْنَ حَمِيمٍ آنٍ ﴿٤٤﴾

၄၅။ သို့ပါလျက် အသင်တို့နှစ်ဦးသည် မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၏ မည်သည့် ကျေးဇူးတော်များကို မဟုတ်မမှန်ဟူ၍ ငြင်းပယ်ကြအံ့နည်း။

فَبِأَيِّ آلَاءِ رَبِّكُمَا تُكَذِّبَانِ ﴿٤٥﴾

၄၆။ ထိုမှတစ်ပါး မိမိအား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်၏ ရှေ့တော်မှောက်၌ မတ်တပ်ရပ်ရန် စိုးရိမ်သောသူ၏အဖို့မှာကား *ဥယျာဉ်နှစ်ခုရှိပေမည်*၊[①]

وَلِمَنْ خَافَ مَقَامَ رَبِّهِ جَنَّتَانِ ﴿٤٦﴾

---

① 'တစ်ရက် ငါသည် အလ္လာဟ်အရှင်မြတ်၏ ရှေ့တော်မှောက်တွင် မတ်တက်ရပ်ရမည်။ မိမိပြောဆိုကျင့်မူခဲ့သည်များနှင့် စပ်လျဉ်း၍ တစ်ခုတစ်ခုစီ စာရင်းရှင်းရမည်။ ကျိုးပြစ်ခံစံရမည်' ဖြစ်သည်ဟု တွေးဆဆင်ခြင်ပြီး၊ အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ရိုသေခန့်ညားကာ၊ ထိုအရှင်မြတ်၏ တရားတော်များကို ဦးထိပ်ရွက်ပန်ဆင်ကာ၊ ကောင်းမှုများကို ဆည်းပူး၍ မကောင်းမှု များကို ဝေးစွာရှောင်ကြဉ်သောသူများ အဖို့မှာကား၊ သုခချမ်းသာ အဖြာဖြာနှင့် ပြည့်ဝစုံလင်လှသော ဥယျာဉ် ၂-ခုရှိပေမည်။ ထိုဥယျာဉ် ၂-ခု၏ ဝိသေသများကား အံ့ချီးမဆုံးတည်း။ ရှေ့တွင် ယင်းဥယျာဉ် ၂-ခု၏ အတိုင်းမသိ ကောင်းမွန်မြင့်မြတ်လှသည့် အချို့ဝိသေသများကို မိန့်ဆိုထားတော်မူသည်။ ဤသည်လည်း အတိုင်းမသိ ကြီးမားလှဘိသော ကျေးဇူးတော်တစ်ပါးပင်။

| | |
|---|---|
| ၄၇။ သို့ပါလျက် အသင်တို့နှစ်ဦးသည် မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၏ မည်သည့် ကျေးဇူးတော်များကို မဟုတ်မမှန်ဟူ၍ ငြင်းပယ်ကြအံ့နည်း။ | فَبِاَيِّ اٰلَاۤءِ رَبِّكُمَا تُكَذِّبٰنِ ﴿٤٧﴾ |
| ၄၈။ အကိုင်းအလက်များ ပေါများဝေဆာလျက် ရှိကြသော၊ | ذَوَاتَاۤ اَفْنَانٍ ﴿٤٨﴾ |
| ၄၉။ သို့ပါလျက် အသင်တို့နှစ်ဦးသည် မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၏ မည်သည့် ကျေးဇူးတော်များကို မဟုတ်မမှန်ဟူ၍ ငြင်းပယ်ကြအံ့နည်း။ | فَبِاَيِّ اٰلَاۤءِ رَبِّكُمَا تُكَذِّبٰنِ ﴿٤٩﴾ |
| ၅၀။ ယင်းဥယျာဉ်နှစ်ခုလုံး၌ စမ်းချောင်းနှစ်ခုသည် စီးတွေလျက် ရှိကြပေမည်။ | فِيْهِمَا عَيْنٰنِ تَجْرِيٰنِ ﴿٥٠﴾ |
| ၅၁။ သို့ပါလျက် အသင်တို့နှစ်ဦးသည် မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၏ မည်သည့် ကျေးဇူးတော်များကို မဟုတ်မမှန်ဟူ၍ ငြင်းပယ်ကြအံ့နည်း။ | فَبِاَيِّ اٰلَاۤءِ رَبِّكُمَا تُكَذِّبٰنِ ﴿٥١﴾ |
| ၅၂။ ယင်းဥယျာဉ်နှစ်ခုလုံးတွင် သစ်သီးတိုင်းသည် နှစ်မျိုးနှစ်စား ရှိကြပေမည်။ | فِيْهِمَا مِنْ كُلِّ فَاكِهَةٍ زَوْجٰنِ ﴿٥٢﴾ |
| ၅၃။ သို့ပါလျက် အသင်တို့နှစ်ဦးသည် မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၏ မည်သည့် ကျေးဇူးတော်များကို မဟုတ်မမှန်ဟူ၍ ငြင်းပယ်ကြအံ့နည်း။ | فَبِاَيِّ اٰلَاۤءِ رَبِّكُمَا تُكَذِّبٰنِ ﴿٥٣﴾ |
| ၅၄။ (၎င်းတို့သည်) ရွှေခြည်များဖြင့် ပန်းထိုးထားသောပိုးဖဲအတွင်းခံထားသည့် မွေ့ရာများပေါ် (ထိုင်၍ မှီအုံးများကို)မှီလျက် ရှိကြပေမည်။ | مُتَّكِـِٕيْنَ عَلٰى فُرُشٍۢ بَطَاۤىِٕنُهَا مِنْ اِسْتَبْرَقٍ ۗ وَجَنَا الْجَنَّتَيْنِ دَانٍ ﴿٥٤﴾ |

ငင်းပြင် ဥယျာဉ်နှစ်ခုလုံး၏အသီးများမှာလည်း နီးကပ်စွာပင် ရှိကြပေမည်။ ၁

فَبِاَیِّ اٰلَآءِ رَبِّکُمَا تُکَذِّبٰنِ ﴿٥٥﴾

၅၅။ သို့ပါလျက် အသင်တို့နှစ်ဦးသည် မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၏ မည်သည့် ကျေးဇူးတော်များကို မဟုတ်မမှန်ဟူ၍ ငြင်းပယ်ကြ အံ့နည်း။

فِیۡہِنَّ قٰصِرٰتُ الطَّرۡفِ ۙ لَمۡ یَطۡمِثۡہُنَّ اِنۡسٌ قَبۡلَہُمۡ وَ لَا جَآنٌّ ﴿ۚ٥٦﴾

၅၆။ ယင်း(ဥယျာဉ်များနှင့် ဥယျာဉ်များရှိ အဆောက် အအုံ)တို့တွင် မျက်စိကို အောက်သို့နှိမ့်ချထားသော မိန်းမပျိုများသည်လည်း ရှိကြပေမည်။ ၎င်းတို့အလျင် မည်သည့် လူသား တစ်ဦးတစ်ယောက်မျှလည်း ထို မိန်းမပျိုတို့အား ထိတွေ့ခဲ့ဖူးသည်မရှိပေ။ မည်သည့် ဂျင်န် တစ်ဦးတစ်ယောက်မျှလည်း ထိတွေ့ခဲ့ဖူးသည် မရှိချေ။

فَبِاَیِّ اٰلَآءِ رَبِّکُمَا تُکَذِّبٰنِ ﴿٥٧﴾

၅၇။ သို့ပါလျက် အသင်တို့နှစ်ဦးသည် မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၏ မည်သည့် ကျေးဇူးတော်များကို မဟုတ်မမှန်ဟူ၍ ငြင်းပယ်ကြ အံ့နည်း။

کَاَنَّہُنَّ الۡیَاقُوۡتُ وَ الۡمَرۡجَانُ ﴿ۚ٥٨﴾

၅၈။ ထိုမိန်းမပျိုတို့မှာ ပတ္တမြားကဲ့သို့လည်းကောင်း၊ သန္တာကျောက်ကဲ့သို့လည်းကောင်း၊ ရှိကြပေမည်။

فَبِاَیِّ اٰلَآءِ رَبِّکُمَا تُکَذِّبٰنِ ﴿٥٩﴾

၅၉။ သို့ပါလျက် အသင်တို့နှစ်ဦးသည် မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၏ မည်သည့် ကျေးဇူးတော်များကို မဟုတ်မမှန်ဟူ၍ ငြင်းပယ်ကြ အံ့နည်း။

---

(၁) ဂျန္နတ်၌ မွတ္တကီ သူတော်စင်များ စံစားကြရမည့် သုခများကို ထောက်ရှုခြင်း အားဖြင့် ယင်းသုခများတွင် နာမ်ပိုင်းဆိုင်ရာ သုခများသာမက ရုပ်ပိုင်းဆိုင်ရာ သုခအဖြာဖြာ ပါဝင်နေသည်ကိုလည်း အထင်အရှား သိရှိနိုင်ပေသည်။ ကြည့်-မာဂျိဒီ

هَلْ جَزَآءُ الْإِحْسَانِ إِلَّا الْإِحْسَانُ ﴿٦٠﴾

၆၀။ အမိန့်တော်ကို ကြည်ညိုလေးမြတ်စွာ နာခံခြင်း၏အကျိုးကား ကျေးဇူးပြုတော်မူခြင်းမှတစ်ပါး အခြားမရှိပြီ။ [၁]

فَبِأَيِّ آلَآءِ رَبِّكُمَا تُكَذِّبَانِ ﴿٦١﴾

၆၁။ သို့ပါလျက် အသင်တို့နှစ်ဦးသည် မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၏ မည်သည့် ကျေးဇူးတော်များကို မဟုတ်မမှန်ဟူ၍ ငြင်းပယ်ကြအံ့နည်း။

وَمِنْ دُونِهِمَا جَنَّتَانِ ﴿٦٢﴾

၆၂။ ထိုမှတစ်ပါး ဥယျာဉ်နှစ်ခု-အပြင်လည်း ဥယျာဉ်နှစ်ခု ရှိ၏။

فَبِأَيِّ آلَآءِ رَبِّكُمَا تُكَذِّبَانِ ﴿٦٣﴾

၆၃။ သို့ပါလျက် အသင်တို့နှစ်ဦးသည် မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၏ မည်သည့် ကျေးဇူးတော်များကို မဟုတ်မမှန်ဟူ၍ ငြင်းပယ်ကြအံ့နည်း။

مُدْهَآمَّتَانِ ﴿٦٤﴾

၆၄။ ယင်း(ဥယျာဉ်)နှစ်ခုလုံးမှာ အစိမ်းရင့် ကျောက်မီးသွေးနရောင် ဖြစ်၏။

فَبِأَيِّ آلَآءِ رَبِّكُمَا تُكَذِّبَانِ ﴿٦٥﴾

၆၅။ သို့ပါလျက် အသင်တို့နှစ်ဦးသည် မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၏ မည်သည့် ကျေးဇူးတော်များကို မဟုတ်မမှန်ဟူ၍ ငြင်းပယ်ကြအံ့နည်း။

---

(၁) 'အစ်ဟ်စာန်' ၏ အဓိပ္ပာယ်မှာ ကောင်းမွန်စွာ ပြုလုပ်ခြင်းဟုဖြစ်သည်။ ဆိုလိုသည်ကား - ကျွန်များသည် ဤပစ္စက္ခ၌ အမိန့်တော်များကို နာခံရာတွင် ကောင်းမွန်စွာ ပြုလုပ်ပြသကြသည်ဖြစ် ရာ၊ နောင်တမလွန်ဘဝ၌ အရှင်သခင်ဘက်တော်မှ ဆုလာဘ်ချီးမြှင့်တော်မူရာတွင်လည်း ကောင်းမွန်စွာ ပြုလုပ်ပြသတော်မူမည်သာ။ အတိုင်းမသိ ကြီးမားသော ဆုလာဘ်များကိုပင်ထပ်မံဖြည့်စွက် ချီး မြှင့်တော်မူဦးမည်သာ။ ဤသည့်သဘောကို ကုရ်အာန် (၁၀း၂၆) တွင်လည်း မိန့်ဆိုထားတော်မူသည်။ ဤသည်လည်း အတိုင်းမသိ ကြီးမားလှဘိသော ကျေးဇူးတော်တစ်ပါးပင်။

၆၆။ ယင်းဥယျာဉ်နှစ်ခု၌ ပန်းထွက်လျက်ရှိသော စမ်းနှစ်ခုသည် ရှိကြပေမည်။

فِيهِمَا عَيْنَانِ نَضَّاخَتَانِ ﴿٦٦﴾

၆၇။ သို့ပါလျက် အသင်တို့နှစ်ဦးသည် မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၏ မည်သည့် ကျေးဇူးတော်များကို မဟုတ်မမှန်ဟူ၍ ငြင်းပယ်ကြအံ့နည်း။

فَبِأَيِّ آلَاءِ رَبِّكُمَا تُكَذِّبَانِ ﴿٦٧﴾

၆၈။ ယင်းဥယျာဉ်နှစ်ခု၌ သစ်သီးဝလံများသည် လည်းကောင်း၊ စွန်ပလွံပင်များသည် လည်းကောင်း၊ သလဲသီးများသည် လည်းကောင်း၊ ရှိကြပေမည်။

فِيهِمَا فَاكِهَةٌ وَنَخْلٌ وَرُمَّانٌ ﴿٦٨﴾

၆၉။ သို့ပါလျက် အသင်တို့နှစ်ဦးသည် မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၏ မည်သည့် ကျေးဇူးတော်များကို မဟုတ်မမှန်ဟူ၍ ငြင်းပယ်ကြအံ့နည်း။

فَبِأَيِّ آلَاءِ رَبِّكُمَا تُكَذِّبَانِ ﴿٦٩﴾

၇၀။ ယင်း(ဥယျာဉ်များနှင့်ဥယျာဉ်များရှိ အဆောက်အအုံ)တို့တွင် စာရိတ္တအားဖြင့် မွန်မြတ်သော၊ ရုပ်ရည်အားဖြင့် လှပတင့်တယ်သော မိန်းမများသည် ရှိကြပေမည်။

فِيهِنَّ خَيْرَاتٌ حِسَانٌ ﴿٧٠﴾

၇၁။ သို့ပါလျက် အသင်တို့နှစ်ဦးသည် မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၏ မည်သည့် ကျေးဇူးတော်များကိုမဟုတ်မမှန်ဟူ၍ငြင်းပယ်ကြအံ့နည်း။

فَبِأَيِّ آلَاءِ رَبِّكُمَا تُكَذِّبَانِ ﴿٧١﴾

၇၂။ လွန်စွာဖြူ၍လှပသော၊ မဏ္ဍပ်ကနားဖျင်းများတွင် ထိန်းသိမ်းစောင့်ရှောက်ထားခြင်းခံရသော၊ မိန်းမများသည် ရှိကြပေမည်။

حُورٌ مَقْصُورَاتٌ فِي الْخِيَامِ ﴿٧٢﴾

၇၃။ သို့ပါလျက် အသင်တို့နှစ်ဦးသည် မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၏ မည်သည့် ကျေးဇူးတော်များကိုမဟုတ်မမှန်ဟူ၍ငြင်းပယ်ကြအံ့နည်း။

فَبِأَيِّ آلَاءِ رَبِّكُمَا تُكَذِّبَانِ ﴿٧٣﴾

لَمْ يَطْمِثْهُنَّ إِنْسٌ قَبْلَهُمْ وَلَا جَانٌّ ﴿٧٤﴾

၇၄။ ၎င်းတို့အလျင် ထိုမိန်းမတို့အား မည်သည့် လူသားတစ်ဦးတစ်ယောက်မျှလည်းကောင်း၊ မည်သည့် ဂျင်န်တစ်ဦးတစ်ယောက်မျှလည်းကောင်း၊ ထိတွေ့ခဲ့ဖူးသည် မရှိပြီ။

فَبِأَيِّ آلَاءِ رَبِّكُمَا تُكَذِّبَانِ ﴿٧٥﴾

၇၅။ သို့ပါလျက် အသင်တို့နှစ်ဦးသည် မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၏ မည်သည့် ကျေးဇူးတော်များကို မဟုတ်မမှန်ဟူ၍ ငြင်းပယ်ကြအံ့နည်း။

مُتَّكِئِينَ عَلَىٰ رَفْرَفٍ خُضْرٍ وَعَبْقَرِيٍّ حِسَانٍ ﴿٧٦﴾

၇၆။ (၎င်းတို့သည်) အစိမ်းရောင် ကော်ဇောများပေါ်၌ လည်းကောင်း၊ လွန်စွာ အံ့ဖွယ်ကောင်းသော အခင်းအကျင်းပေါ်၌ လည်းကောင်း၊ (ထိုင်၍ မှီအုံးများကို) မှီလျက် ရှိကြပေမည်။

فَبِأَيِّ آلَاءِ رَبِّكُمَا تُكَذِّبَانِ ﴿٧٧﴾

၇၇။ သို့ပါလျက် အသင်တို့နှစ်ဦးသည် မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၏ မည်သည့် ကျေးဇူးတော်များကို မဟုတ်မမှန်ဟူ၍ ငြင်းပယ်ကြအံ့နည်း။

تَبَارَكَ اسْمُ رَبِّكَ ذِي الْجَلَالِ وَالْإِكْرَامِ ﴿٧٨﴾

၇၈။ (အို-နဗီတမန်တော်)၊ အသင့်အား ဖန်ဆင်းမွေးမြူတော်မူသောတန်ခိုးတော်ရှင်၊ ကျေးဇူးတော်ရှင်၏နာမံတော်သည် ကျက်သရေ မင်္ဂလာအပေါင်းနှင့် ပြည့်စုံပါပေသည်တကား။ ၁

---

(၁) အလ္လာဟ်အရှင်မြတ်၏တန်ခိုးတော်ကား အတိုင်းမသိ ထက်မြက်ပါဘိတကား။ ထိုအရှင်မြတ်၏ ကရုဏာတော်ကား အတိုင်းမသိ များပြားကြီးမားပါဘိတကား။ ထိုအရှင်မြတ်၏ နာမံတော်ကား အတိုင်းမသိ မင်္ဂလာရှိလှပါဘိတကား။ ထိုဤများမြောင်လှသော ကျေးဇူးတော်များသည် ထိုနာမံတော်ကို အောက်မေ့တသ သတိရခြင်း၏ အကျိုးပင် ဖြစ်ပေရာ၊ ကျွန်ုပ်တို့သည် အခါ ခပ်သိမ်း ထိုအရှင်မြတ်အား ကြောက်ရွံ့ရိုသေခန့်ညားကာ၊ အောက်မေ့ တသ သတိရကာ၊ ထိုအရှင်မြတ်၏ အမိန့်တော်များကို နာယူကျင့်မူကြပါက၊ ထိုအရှင်မြတ်၏ အတိုင်းမသိ များပြားလှသော ကျေးဇူးတော်များကို ခံစားကြရမည်မှာ အမှန်မုချပါ။

## အဖြစ်အပျက်ကဏ္ဍ

سُوْرَةُ الْوَاقِعَةِ

ဤကဏ္ဍသည် 'ဝါကိအဟ်' အဖြစ်အပျက် ကဏ္ဍမည်၏။ မက္ကာမြို့တော်၌ကျရောက်ခဲ့၏။
ဤကဏ္ဍတွင် (အာယတ်တော်) (၉၆)ပါး (ရကူအ်) အပိုဒ် (၃)ပိုဒ် အသီးသီးပါရှိ၏။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ

အလွန်တရာ သနားကြင်နာ ညှာတာတော်မူသော၊ အထူး ကရုဏာပြုတော်မူသော အလ္လာဟ်အရှင်မြတ်၏ နာမံတော်ဖြင့် အစပြုပါ၏။

إِذَا وَقَعَتِ الْوَاقِعَةُ ①

၁။ အကြင်အခါဝယ် အဖြစ်အပျက် (ကိယာမတ်ရှင်ပြန်ထမည့်နေ့)သည် ဖြစ်ခဲ့အံ့။

لَيْسَ لِوَقْعَتِهَا كَاذِبَةٌ ②

၂။ ယင်းအဖြစ်အပျက် (ကိယာမတ်) ဖြစ်မှုနှင့် စပ်လျဉ်း၍ မမှန်ဟူ၍မရှိပြီ။

خَافِضَةٌ رَّافِعَةٌ ③

၃။ (ယင်းအဖြစ်အပျက်သည် အချို့အား) နိမ့်စေ၍ (အချို့အား) မြင့်စေမည်။ [၁]

إِذَا رُجَّتِ الْأَرْضُ رَجًّا ④

၄။ အကြင်အခါဝယ် ကမ္ဘာမြေသည် ပြင်းထန်စွာ တုန်လှုပ်စေခြင်းကို ခံရပေမည်။

وَّبُسَّتِ الْجِبَالُ بَسًّا ⑤

၅။ ၎င်းပြင် တောင်များသည် ညက်ညက်ကြေ အောင်ကြေမွစေခြင်းကို ခံကြရမည်။

فَكَانَتْ هَبَاءً مُّنْۢبَثًّا ⑥

၆။ ထိုအခါ ယင်းတောင်များမှာ ဖြန့်ကြဲထားသော မြူမှုန့် ဖြစ်သွားကြပေမည်။

---

(၁) ကိယာမတ်သည် အချို့ကိုနိမ့်ကျစေသည်။ အချို့ကိုမြင့်တင်ပေမည်။ ဆိုလိုသည်ကား ဤပစ္စက္ခတွင် မောက်မာပလွှား ဝါကြွား၍ အမိန့်တော်ကို သွေဖည်ဆန့်ကျင်နေခဲ့ကြသော သူယုတ်မာများသည် ကိယာမတ်နေ့တွင် အရှက်တကွဲ အကျိုးနည်းဖြစ်ကြရပေမည်။ ဂျဟန္နမ်ငရဲ၏ အောက်ဆုံး အနိမ့်ဆုံးအဆင့်တွင် လားကြရပေမည်။

ဤပစ္စက္ခတွင် အမိန့်တော်ကို နာခံကာ ကျိုးနွံ စွာနေထိုင်ခဲ့ကြသော မုအ်မင်န်သူတော်စင်များမှာကား၊ မိမိတို့၏ မှန်ကန်သောအီမာန်ယုံကြည်မှုနှင့် ကောင်းမြတ်သောအကျင့်သီလများ၏ ကျေးဇူးကြောင့် ဘေးမသီ ရန်မခဘဲ အရှက်တကွဲ အကျိုးနည်းမဖြစ်ရဘဲ၊ ဂုဏ်သိက္ခာရှိစွာဖြင့် ဂျန္နတ်၏ အလွန်မြင့်စွင့်သော ဘုံများတွင် အမြဲထာဝစဉ် စံစားလျက်ရှိကြပေမည်။

وَّكُنْتُمْ اَزْوَاجًا ثَلٰثَةً ۝٧

၇။ ထိုမှတစ်ပါး အသင်တို့သည် သုံးမျိုးသုံးစား ဖြစ်သွားကြပေမည်။ ၁

فَاَصْحٰبُ الْمَيْمَنَةِ ۙ مَآ اَصْحٰبُ الْمَيْمَنَةِ ۝٨

၈။ မည်သို့ပင်ဖြစ်စေ လက်ယာဘက်သားတို့မှာ၊ ထိုလက်ယာဘက်သားတို့ကား အဘယ်မျှလောက် ကောင်းမြတ်ပေသနည်း။ ၂

وَاَصْحٰبُ الْمَشْـَٔمَةِ ۙ مَآ اَصْحٰبُ الْمَشْـَٔمَةِ ۝٩

၉။ သို့ရာတွင် လက်ဝဲဘက်သားတို့မှာ၊ လက်ဝဲဘက်သားတို့ကား အဘယ်မျှလောက် ဆိုးရွားလှဘိသနည်း။ ၃

---

① သုံးမျိုးသုံးစား၊

ကိယာမတ်နေ့တွင် လူသားအားလုံးတို့သည် အောက်ပါအတိုင်း သုံးမျိုးသုံးစား ဖြစ်သွားကြပေမည်။

(၁) (မုကရ်ရဗီန်) အလ္လာဟ်အရှင်မြတ်နှင့် အထူးတလည်နီးစပ်သော သူတော်စင်ကြီးများ

(၂) ရိုးရိုး မွတ်စ်လင်မ် သူတော်စင်များ၊

(၃) ဂျဟန္နမ်ငရဲသို့ လားကြရမည့် ကာဖိရ်သူယုတ်မာများ၊

ကုရ်အာန်ကျမ်းမြတ်တွင် ယင်းသုံးမျိုးသုံးစားအနက် ပထမအုပ်စုကို 'မုကရ်ရဗီန်' ဟူ၍ လည်းကောင်း၊ ဒုတိယအုပ်စုကို 'အတ်ဆ်ဟာဗုလ်မိုင်မနဟ်' လက်ယာဘက်သားများ ဟူ၍လည်းကောင်း၊ တတိယအုပ်စုကို 'အတ်ဆ်ဟာဗုလ်မရ်အမဟ်' လက်ဝဲဘက်သားများဟူ၍လည်းကောင်း၊ အသီးသီးအမည် ပညတ် ထားတော်မူသည်။

ရှေ့တွင် အထက်ပါ သုံးမျိုးသုံးစား၏အကြောင်းနှင့် ၎င်းတို့ ခံ-စံကြရမည့်ကျိုးပြစ်များကို မိန့်ဆို ထားတော်မူသည်။ ယင်း သုံးမျိုးသုံးစား၏ အကြောင်း ယခင်ကဏ္ဍတွင်လည်း ပါရှိခဲ့ချေပြီ။

② လက်ယာဘက်သားများ ဟူသည်ကား အကြင်သူတော်စင်များတည်း။ ၎င်းတို့သည် 'အရ်ရှ်' ပလ္လင်တော်၏ လက်ယာဘက်တွင်နေကြရပေမည်။ 'မီဆာက်' ပဋိညာဉ်ယူခဲ့စဉ်က ၎င်းတို့သည် ဖခင်ကြီးအာဒမ်၏ လက်ယာ နံဘေးမှ ထုတ်ယူခြင်း ခံခဲ့ကြရပေသည်။ ၎င်းတို့၏မှတ်တမ်းများသည်လည်း ၎င်းတို့၏ လက်ယာဘက် လက်များ၌ပင် ပေးအပ်ခြင်း ခံကြရပေမည်။ ကောင်းကင်တမန်များသည်လည်း ၎င်းတို့အား လက်ယာဘက်မှပင် လာရောက်ခေါ်ဆောင်ကြပေမည်။ ဤအုပ်စုကား မင်္ဂလာရှိလှပါဘိတကား။

တမန်တော်မြတ် မိအ်ရာဂျ်သို့ ကြွမြန်းသွားတော်မူခဲ့စဉ် ဖခင်ကြီးအာဒမ်နှင့်လည်း တွေ့တော်မူခဲ့သည်။ ဖခင်ကြီးအာဒမ်သည် မိမိ၏လက်ယာဘက်သို့ကြည့်၍ ပြုံးရွှင်တော်မူ၏။ လက်ဝဲဘက်သို့ကြည့်၍ ငိုတော်မူ၏။ ယင်းသည့်ဖြစ်ရပ်သည်လည်း အထက်တွင်ဖော်ပြပါ လက်ယာဘက်သားများနှင့် လက်ဝဲဘက်သားများကိုပင် ရည်ညွှန်းခြင်း ဖြစ်၏။

ဝိညာဉ်လောကတွင် အလ္လာဟ်အရှင်မြတ်သည် လူသားတို့ထံမှ 'မီဆာက်' ပဋိညာဉ် ယူထားတော်မူခဲ့သည့် အကြောင်းကုရ်အာန် (၇:၁၇၂) တွင်ပါရှိသည်။

وَالسّٰبِقُوْنَ السّٰبِقُوْنَ ۙ﴿۱۰﴾

၁၀။ ထိုမှတစ်ပါး အသာဆုံးသောသူတို့မှာ အသာဆုံးသောသူများပင် ဖြစ်ကြကုန်၏။

اُولٰٓئِكَ الْمُقَرَّبُوْنَ ۚ﴿۱۱﴾

၁၁။ ထိုသူတို့ကား (အလ္လာဟ်အရှင်မြတ်နှင့်) အထူးနီးစပ်သောသူများပင်။ [၁]

فِیْ جَنّٰتِ النَّعِیْمِ ﴿۱۲﴾

၁၂။ (၎င်းတို့မှာကား) ထာဝရစည်းစိမ်နှင့် ပြည့်စုံသောဥယျာဉ်များ၌ ရှိကြကုန်အံ့သတည်း။

ثُلَّةٌ مِّنَ الْاَوَّلِیْنَ ۙ﴿۱۳﴾

၁၃။ (ယင်းဥယျာဉ်များတွင်) ရှေးသူဟောင်းတို့အနက်မှ အလွန်ကြီးမားများပြားသော အုပ်စုကြီးတစ်ခု ရှိပေမည်။

وَقَلِیْلٌ مِّنَ الْاٰخِرِیْنَ ؕ﴿۱۴﴾

၁၄။ ၎င်းပြင် နောင်လာနောင်သားတို့ အနက်မှ အနည်းငယ် ရှိကြပေမည်။ [၂]

---

⑨ လက်ဝဲဘက်သားများ ဟူသည်ကား – အကြင်သူယုတ်မာများတည်း။ ၎င်းတို့သည် 'မီဆာက' ပဋိညာဉ်ယူခဲ့စဉ်က ဖခင်ကြီး အာဒမ်၏ လက်ဝဲနံဘေးမှ ထုတ်ယူခြင်းခံခဲ့ကြရပေသည်။ ၎င်းတို့သည် 'အရ်ရှ်' ပလ္လင်တော်၏ လက်ဝဲဘက်၌ မတ်တက်ရပ်စေခြင်းခံကြရပေမည်။ ၎င်းတို့၏ မှတ်တမ်းများသည်လည်း ၎င်းတို့၏ လက်ဝဲလက်များ၌ပင် ပေးအပ်ခြင်း ခံကြရပေမည်။ ကောင်းကင် တမန်များသည်လည်း ၎င်းတို့အား လက်ဝဲဘက်မှပင် လာရောက်ဖမ်းဆီးကြပေမည်။ ဤအုပ်စုကား မင်္ဂလာမဲ့လူပါဘိတကား။

① ရှေ့ဆုံး အသာဆုံးသူများ ဟူသည်ကား အကြင်သူတော်စင်ကြီးများတည်း။ ၎င်းတို့သည် အလ္လာဟ်အရှင်မြတ်၏လမ်းတော်၌ ပညာအရာတွင်လည်းကောင်း၊ အကျင့်သီလအရာတွင်လည်းကောင်း၊ အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ရိုသေ ခန့်ညားရာတွင်လည်းကောင်း၊ အားလုံးထက် ရှေ့ဆုံးက ဖြစ်ခဲ့ကြပေသည်။ အသာဆုံး ဖြစ်ခဲ့ကြပေသည်။ ထိုသူတော်စင်ကြီးများသည် အလ္လာဟ်အရှင်မြတ်၏ ကရုဏာတော်များကိုလည်း အများဆုံး ခံယူကြရပေမည်။ အလ္လာဟ်အရှင်မြတ်၏ ထံတော်ပါး၌ 'အရ်ရှ်' ပလ္လင်တော်၏အနီးတွင် အနီးစပ်ဆုံး ခံစားခွင့်၊ ခစားခွင့်လည်းရရှိကြပေမည်။ ယင်းသူ တော်စင်ကြီးများတွင် (နဗီ၊ ရစူလ်)တမန်တော်များ၊ သစ္စာဝါဒီများ၊ အစ္စလာမ့်အာဇာနည် စသည့် သူတော်စင်ကြီးများ ပါဝင်ကြပေသည်။

② 'ရှေး သူဟောင်းတို့ အနက်မှ အလွန်ကြီးကျယ်များပြားသော အုပ်စုကြီးတစ်ခု ရှိပေမည်။ ၎င်းပြင် နောင်လာနောင်သားတို့အနက်မှ အနည်းငယ်သာ ရှိကြပေမည်'။ ဤအာယတ်တော်၏ အနက်သဘောကား အသို့ပါနည်း။ ဤတွင် အဖွင့်အမျိုးမျိုး တွေ့ ရှိရပေသည်။

(၁) ရှေးသူဟောင်းများဟူသည် အတိတ်ခေတ်အုပ်စုများကို ဆိုလိုသည်။ နောင်လာနောင်သားတို့ ဟူသည် တမန်တော်မြတ်အုပ်စုကို ဆိုလိုသည်။

(၂) ရှေးနှောင်းဟူသည် အခြားမဟုတ်၊ တမန်တော်မြတ်၏ အုပ်စုကိုပင်ဆိုလိုသည်။ ဆိုလိုသည်ကား အလွန်အဆင့်အတန်းမြင့်မားသော ပုဂ္ဂိုလ်မွန်များသည် ရှေးယခင်က အများအပြား ပေါ်ထွန်းခဲ့ကြပေပြီ၊ ➤➤

عَلٰى سُرُرٍ مَّوْضُوْنَةٍ ۝١٥

၁၅။ (၎င်းတို့မှာ) ကျောက်သံပတ္တမြားစီ၍ မြှုပ်ထားသော သလွန်များထက်ဝယ်၊

مُّتَّكِـِٕيْنَ عَلَيْهَا مُتَقٰبِلِيْنَ ۝١٦

၁၆။ (မှီအုံးများကို)မှီလျက် မျက်နှာချင်းဆိုင်ထိုင်လျက် ရှိနေကြပေမည်။

يَطُوْفُ عَلَيْهِمْ وِلْدَانٌ مُّخَلَّدُوْنَ ۝١٧

၁၇။ ၎င်းတို့ထံ အသက်သေဆုံးခြင်းမရှိဘဲ၊ အမြဲထာဝရ နုငယ်လျက် ရှိနေကြရအံ့သော သူငယ်တို့ လှည့်ပတ် သွားလာလျက် ရှိကြပေမည်။

بِاَكْوَابٍ وَّاَبَارِيْقَ ۙ وَكَاْسٍ مِّنْ مَّعِيْنٍ ۝١٨

၁၈။ သောက်ရေဖလားများ၊ ရေတကောင်းများနှင့် သွင်သွင်စီးသော အရက်ဖြင့် ပြည့်လျှံလျက်ရှိသော ခွက်များကို ယူဆောင်၍၊

لَّا يُصَدَّعُوْنَ عَنْهَا وَلَا يُنْزِفُوْنَ ۝١٩

၁၉။ ၎င်းတို့မှာ ထိုအရက်ကြောင့် ခေါင်းခဲခြင်းကိုလည်း ခံစားကြရမည် မဟုတ်ပေ။ သတိလစ်ကြမည်လည်း မဟုတ်ချေ။ ၁

---

➤➤ ထိုသို့သောပုဂ္ဂိုလ်များသည် နှောင်းခေတ်များတွင်အလွန် နည်းကြပေသည်ဟူ၏။

**မှတ်ချက်။** အထက်ပါ အာယတ်တော်တွင် ဖော်ပြပါ အဆို - ၂ရပ်လုံး အကျုံး ဝင်နိုင်ပေသည်။ အစ်ဗ်နကဆီရ်သည် ဒုတိယအဆိုကို ပိုမိုနှစ်ခြိုက်သည်။

(၃) သာသနာဝင်အုပ်စုတိုင်း၌ ပထမပိုင်းအုပ်စုတွင် သက်ဆိုင်ရာတမန်တော်နှင့် အတူတကွ လက်ပွန်းတတီးနေထိုင်၍ တရားတော်များကို ကြားနာရသည့် ကျေးဇူးကြောင့်သော်လည်းကောင်း၊ သက်ဆိုင်ရာ တမန်တော်နှင့် အချိန်ကာလ နီးစပ်မှု၏ ကျေးဇူးကြောင့်သော်လည်းကောင်း၊ အဆင့်အတန်း အလွန်မြင့်မားသော သူတော်စင်များ အများအပြား ပေါ်ထွန်းလေ့ရှိခဲ့ပေသည်။ နောက်ပိုင်းအုပ်စုများတွင်မူကား ထိုသို့ အဆင့်အတန်း မြင့်မားသော သူတော်စင်များ အများအပြား ပေါ်ထွန်းလေ့မရှိခဲ့ပေ။ အနည်းငယ်သာ ပေါ်ထွန်းလေ့ရှိခဲ့ပေသည်။ ဤသည့်သဘောကိုပင် ရည်ညွှန်း၍ တမန်တော်မြတ်ကလည်း

( خير القرون قرنى ثم الذين يلونهم ثم الذين يلونهم )

'အကောင်းဆုံးခေတ်သည် ကျွန်ုပ်တို့ခေတ်ဖြစ်သည်။ ထို့နောက်သော် ၎င်းတို့နှင့် နီးကပ်လျက်ရှိသော ပုဂ္ဂိုလ်များ၊ ထို့နောက်သော် ထိုသူများနှင့် နီးကပ်လျက်ရှိသော ပုဂ္ဂိုလ်များ ဖြစ်သည်'ဟု မိန့်ကြားတော်မူခဲ့ပေသည်။ မောင်လာနာ အွတ်ဆ်မာနီသည် ဤတတိယအဆိုကို ပိုမိုနှစ်ခြိုက်သည်။ ကြည့်-အွတ်ဆ်မာနီ။ အစ်ဗ်နကဆီရ်။

① ဤပစ္စက္ခနှင့်ဂျန္နတ်သည် မည်သို့မျှမနှိုင်းယှဉ်အပ်သည့်အလား ဤပစ္စက္ခရှိအရက်နှင့် ဂျန္နတ်ရှိအရက်သည်လည်း အလျှင်း မနှိုင်းယှဉ်အပ်ပေ။ ဤပစ္စက္ခရှိ အရက်ကို သောက်သုံးပါက ဦးခေါင်းခဲသည်။ သတိလစ်သည်။ ဂျန္နတ်ရှိ အရက်ကို သောက်သုံးခြင်းဖြင့် ဦးခေါင်းခဲမည်မဟုတ်ပေ။ သတိလစ်မည်လည်း မဟုတ်ပေ။ ➤➤

၂၀။ ထို့ပြင် ၎င်းတို့နှစ်လိုကြသော သစ်သီးဝလံများ(ကို ယူဆောင်၍)၊

وَفَاكِهَةٍ مِّمَّا يَتَخَيَّرُونَ ﴿٢٠﴾

၂၁။ ထိုမှတစ်ပါး ၎င်းတို့နှစ်သက်ကြသော ငှက်သားများ(ကို ယူဆောင်၍)၊

وَلَحْمِ طَيْرٍ مِّمَّا يَشْتَهُونَ ﴿٢١﴾

၂၂။ ထိုမှတစ်ပါး (၎င်းတို့အဖို့) လွန်စွာဖြူ၍ တင့်တယ်သော၊ မျက်စိပြူး၍လှပသော မိန်းမများလည်း ရှိကြပေမည်။

وَحُورٌ عِينٌ ﴿٢٢﴾

၂၃။ လျှို့ဝှက်၍ထားရှိသော ပုလဲများပမာ။

كَأَمْثَالِ اللُّؤْلُؤِ الْمَكْنُونِ ﴿٢٣﴾

၂၄။ (ဤသည်) ၎င်းတို့ ကျင့်မှုဆောက်တည်လျက် ရှိခဲ့ကြလေသော ကောင်းမှုများ၏ အစားပေးတော်မူခြင်းပင်။

جَزَاءً بِمَا كَانُوا يَعْمَلُونَ ﴿٢٤﴾

၂၅။ ထိုသူတို့သည် ယင်းဉယျာဉ်များ၌ မည်သည့် မရေမရာသော စကားလုံးမျှ လည်းကောင်း၊ မည်သည့် အပြစ်ဖြစ်စေသော စကားကိုမျှ လည်းကောင်း၊ ကြားရမည် မဟုတ်ပေ။

لَا يَسْمَعُونَ فِيهَا لَغْوًا وَلَا تَأْثِيمًا ﴿٢٥﴾

၂၆။ 'စလာမ်' 'စလာမ်' (ဘေးရန်ခပ်သိမ်း ကင်းငြိမ်းပါစေ၊ ဘေးရန်ခပ်သိမ်းကင်းငြိမ်းပါစေ)ဟူ၍ပြောဆိုခြင်းကိုသာလျှင် (ကြားကြရကုန်အံ့သတည်း။) ၁

إِلَّا قِيلًا سَلَامًا سَلَامًا ﴿٢٦﴾

➤➤ ဂျန္နတ်ရှိအရက်သည် အတိုင်းမသိ ကောင်းမွန်လှသော ရသာအထူးထူးတို့ဖြင့် ပြည့်စုံလှပေမည်။ အန္တရာယ်ဟူ၍ စိုးစဉ်းမျှပင် အလျှင်းရှိမည် မဟုတ်ပေ။ ဂျန္နတ်ရှိအရက်ကား ဂျန္နတ်၏အရက်ပင်။ လူသားတို့မှန်းဆနိုင်ရန် အမည်တူ သုံးထားမှုခြင်းသာဖြစ်သည်။ ရသာချင်းကား မိုးမြေတမျှ ကွာခြားပေမည်။ အလျှင်းမနှိုင်းယှဉ်ရာ။

① <u>စလာမ်၊ စလာမ်၊</u>

ဂျန္နတ်သုခဘုံတွင် ဤပစ္စက္ခလူ့လောကမှာကဲ့သို့ စကားသိမ်၊ စကားဖျင်း ကုန်းချောစကား၊ မုသားစကားစသည့် မလျော်ကန်သော စကားများကို အလျှင်းကြားရမည် မဟုတ်ပေ။ ဂျန္နတ်သုခဘုံတွင် သုခချည်းတည်ရှိသည်ဖြစ်ရာ၊ သုခကို ဆောင်သည့် သာယာနာပျော်ဖွယ် စကားများကိုသာ ကြားရပေမည်။ ➤➤

وَاَصۡحٰبُ الۡيَمِيۡنِ ۙ مَاۤ اَصۡحٰبُ الۡيَمِيۡنِ ﴿٢٧﴾

၂၇။ ထို့ပြင် လက်ယာဘက်သားတို့ကား၊ ထို လက်ယာဘက်သားတို့မှာ အဘယ်မျှ ကောင်းမြတ်ကြ ပေသနည်း။

فِىۡ سِدۡرٍ مَّخۡضُوۡدٍ ۙ ﴿٢٨﴾

၂၈။ (၎င်းတို့မှာ) ဆူးများရှင်းထားပြီးဖြစ်သော ဆီးပင်ရှိရာ၌ ရှိကြပေမည်။

وَّطَلۡحٍ مَّنۡضُوۡدٍ ۙ ﴿٢٩﴾

၂၉။ ၎င်းပြင် အခိုင်လိုက်သီးသော ငှက်ပျောပင်များ ရှိရာ၌ ရှိကြပေမည်။

وَّظِلٍّ مَّمۡدُوۡدٍ ۙ ﴿٣٠﴾

၃၀။ ထို့ပြင် ကျယ်ဝန်းပြန့်ပြူး၍ မြဲသောအရိပ် အာဝါသ၌ ရှိကြပေမည်။

وَّمَآءٍ مَّسۡكُوۡبٍ ۙ ﴿٣١﴾

၃၁။ ထိုမှတစ်ပါး (မြေပေါ်)၌ အမြဲစီးတွေလျက် ရှိသော ရေရှိရာ၌ ရှိကြပေမည်။

وَّفَاكِهَةٍ كَثِيۡرَةٍ ۙ ﴿٣٢﴾

၃၂။ ထို့ပြင် မြောက်မြားစွာသော သစ်သီးဝလံများ ရှိရာ၌ ရှိနေကြပေမည်။

لَّا مَقۡطُوۡعَةٍ وَّلَا مَمۡنُوۡعَةٍ ۙ ﴿٣٣﴾

၃၃။ (ထိုသစ်သီးဝလံများမှာ မည်သည့် ဥတုရာသီ ၌မျှ) ကုန်ခန်းသော သစ်သီးဝလံများလည်း မဟုတ်ပေ၊ (မည်သို့မျှ) ပိတ်ပင်တားမြစ်ခြင်းခံရအံ့သော သစ်သီး ဝလံများလည်း မဟုတ်ချေ။

---

➤➤ 'စလာမ်'၊ 'စလာမ်'၊ 'ဘေးရန်ခပ်သိမ်းကင်းငြိမ်းပါစေ'၊ 'ဘေးရန်ခပ်သိမ်း ကင်းငြိမ်းပါစေ' ဟူသော သံသာယာကို အခါခပ်သိမ်းကြားရပေမည်။ ဂျန္နတ်သားအချင်းချင်း တွေ့ဆုံကြသည့်အခါတွင်လည်း စလာမ်၊ စလာမ်ဟူ၍ပင် ပြောဆိုမေတ္တာပို့သကြပေမည်။ ကောင်းကင်တမန်များကလည်း ဂျန္နတ်သားတို့အား စလာမ်၊ စလမ်ဟူ၍ပင် ပြောဆိုမေတ္တာပို့ကြပေမည်။ အလ္လာဟ်အရှင်မြတ်ထံတော်မှလည်း ဂျန္နတ်သားတို့အား ယင်း စလာမ်၊ စလာမ်တည်းဟူသော သံသာထူးဖြင့်ပင် သြဘာပေးတော်မူပေမည်။ ချီးမြှင့်မြှောက်စားတော်မူပေမည်။

ဤသို့ဖြင့် ဂျန္နတ်တစ်ခုလုံးသည် စလာမ် တည်းဟူသော သံသာယာဖြင့် အခါခပ်သိမ်းငြိမ်းချမ်းလျက် ရှိပေမည်။ (အလ္လာဟ်အရှင်မြတ်သည် ကျွန်တော်မျိုးတို့အား ယင်းသို့သောသုခဘုံတွင် ဝင်ရောက်စံစားခွင့် ပြုတော်မူသည် ဖြစ်ပါစေ)။

وَّفُرُشٍ مَّرْفُوعَةٍ ۝٣٤

၃၄။ ထိုမှတစ်ပါး (၎င်းတို့သည်) မြင့်စွင့်လှစွာသော သလွန်များ၊ အခင်းအကျင်းများ၊ မွေ့ရာများပေါ်၌ ရှိနေကြပေမည်။

إِنَّآ أَنشَأْنَٰهُنَّ إِنشَآءً ۝٣٥

၃၅။ ဧကန်မလွဲ ငါအရှင်မြတ်သည် (ဂျန္နတ်သုခဘုံ၌ ရှိကုန်သော) ထိုမိန်းမတို့အား အထူးဖန်ဆင်းတော်မူခဲ့၏။

فَجَعَلْنَٰهُنَّ أَبْكَارًا ۝٣٦

၃၆။ တစ်ဖန် ငါအရှင်မြတ်သည် ၎င်းတို့အား ပျိုကညာများ ပြုလုပ်တော်မူခဲ့၏။

عُرُبًا أَتْرَابًا ۝٣٧

၃၇။ (လင်ယောကျာ်းတို့အား) ချစ်ခင် စုံမက်ကြသော၊ သက်တူရွယ်တူများဖြစ်ကြသော၊

لِّأَصْحَٰبِ ٱلْيَمِينِ ۝٣٨

၃၈။ လက်ယာဘက်သားတို့အဖို့၊ [၁]

ثُلَّةٌ مِّنَ ٱلْأَوَّلِينَ ۝٣٩

၃၉။ (ထိုလက်ယာဘက်သားတို့တွင်) ရှေးသူဟောင်းတို့အနက် ကြီးကျယ်လှစွာသော အုပ်စုကြီးတစ်ခုသည်လည်းကောင်း၊

وَثُلَّةٌ مِّنَ ٱلْـَٔاخِرِينَ ۝٤٠

၄၀။ နောင်လာနောက်သားတို့အနက်မှ ကြီးကျယ်လှသော အုပ်စုကြီးတစ်ခုသည်လည်းကောင်း၊ ပါဝင်ကြကုန်အံ့သတည်း။ [၂]

وَأَصْحَٰبُ ٱلشِّمَالِ مَآ أَصْحَٰبُ ٱلشِّمَالِ ۝٤١

၄၁။ သို့ရာတွင် လက်ဝဲဘက်သားတို့မှာ၊ လက်ဝဲဘက်သားတို့သည် အဘယ်မျှလောက် ဆိုးရွားလှဘိသနည်း။

---

(၁) ဤအာယတ်တော်များ (၅၆:၂၇-၄၀) တွင် လက်ယာဘက်သား၊ ရိုးရိုးမွတ်စ်လင်မ်သူတော်စင်များ စံစားကြရမည့် အံ့မခန်းသုခများကို မိန့်ဆိုထားတော်မူသည်။ ၎င်းတို့စံစားကြရမည့် သုခများသည် 'မုကရ်ရဗီန်' သူတော်စင်ကြီးများ စံစားကြရမည့် သုခများနှင့် အနည်းငယ်ခြားနားသော်လည်း သူ့နေရာနှင့်သူ အံ့ချီးမဆုံးပင်။
(၂) ရိုးရိုးသူတော်စင်များသည် အလွန့်အလွန် အဆင့်အတန်း မြင့်မားသော သူတော်စင်ကြီးများနှင့်မတူ၊ ၎င်းတို့သည် ရှေးသူဟောင်းတို့တွင်လည်း အမြောက်အမြား ရှိခဲ့ကြပေသည်။ နောင်လာ နောက်သားတို့တွင်လည်း မြောက်မြားစွာပင် ထွန်းကားကြပေမည်။

၄၂။ (ထိုလက်ဝဲဘက်သားတို့မှာ) ခြစ်ခြစ်ပူလောင်သောလေပူ၌လည်းကောင်း၊ ပွက်ပွက်ဆူလျက်ရှိသောရေနွေးပူ၌လည်းကောင်း၊

فِىْ سَمُوْمٍ وَّحَمِيْمٍ ﴿٤٢﴾

၄၃။ လွန်စွာနက်မှောင်သော အခိုးအငွေ့၏ အရိပ်၌လည်းကောင်း၊ ရှိကြပေမည်။

وَّظِلٍّ مِّنْ يَّحْمُوْمٍ ﴿٤٣﴾

၄၄။ (ယင်းအရိပ်မှာ) အေးမြသည်လည်း မဟုတ်ပေ၊ ပြန်၍ လန်းဆန်းစေသည်လည်း မရှိပေ။

لَّا بَارِدٍ وَّلَا كَرِيْمٍ ﴿٤٤﴾

၄၅။ စင်စစ်ကေန် ၎င်းတို့သည် ထိုသည့်အလျင် စည်းစိမ်ကြီးသူများပင် ဖြစ်ခဲ့ကြကုန်၏။

اِنَّهُمْ كَانُوْا قَبْلَ ذٰلِكَ مُتْرَفِيْنَ ﴿٤٥﴾

၄၆။ ထို့ပြင် အလွန်အမင်း ကြီးလေးသော ပြစ်မှုဒုစရိုက်ကို ဖွတ်တိုး၍ ကျူးလွန်လျက် ရှိခဲ့ကြကုန်၏။

وَكَانُوْا يُصِرُّوْنَ عَلَى الْحِنْثِ الْعَظِيْمِ ﴿٤٦﴾

၄၇။ ထိုမှတစ်ပါး ၎င်းတို့သည် (ဤသို့) ပြောဆိုလျက်ရှိခဲ့ကြကုန်၏။ 'ကျွန်ုပ်တို့သည် သေပြီးနောက် အရိုးများ ဖြစ်ခဲ့ကြသောအခါ ရှင်ပြန်ထစေခြင်းကို ခံကြရဦးမည်လော'။

وَكَانُوْا يَقُوْلُوْنَ ۙ اَئِذَا مِتْنَا وَكُنَّا تُرَابًا وَّعِظَامًا ءَاِنَّا لَمَبْعُوْثُوْنَ ﴿٤٧﴾

၄၈။ '၎င်းပြင် ရှေးသူဟောင်းများ ဖြစ်ကြသော ကျွန်ုပ်တို့၏ အဘ ဘိုးဘေးတို့သည်လည်း (ရှင်ပြန်ထကြဦးမည်လော)'။

اَوَاٰبَآؤُنَا الْاَوَّلُوْنَ ﴿٤٨﴾

၄၉။ (အို-နဗီတမန်တော်၊) အသင်သည် ပြောကြားပါလေ။ (အချင်းတို့) ကေန်မလွဲ လူဟောင်းတို့သည်လည်းကောင်း၊ နောင်လာနောက်သားတို့သည်လည်းကောင်း။

قُلْ اِنَّ الْاَوَّلِيْنَ وَالْاٰخِرِيْنَ ﴿٤٩﴾

၅၀။ အမှန်ပင် သတ်မှတ်ပြီးဖြစ်သောနေ့ ဆိုက်ရောက်လာသောအချိန်တွင် စုရုံးခြင်း ခံကြရပေမည်။

لَمَجْمُوْعُوْنَ ۙ اِلٰى مِيْقَاتِ يَوْمٍ مَّعْلُوْمٍ ﴿٥٠﴾

ثُمَّ إِنَّكُمْ أَيُّهَا الضَّآلُّونَ
الْمُكَذِّبُونَ ﴿٥١﴾

၅၁။ ထို့နောက် အို-လမ်းလွဲသူတို့၊ မဟုတ်မမှန်
ဟူ၍ စွပ်စွဲငြင်းပယ်သူတို့၊ အသင်တို့သည် ဧကန်မလွဲ

لَآكِلُونَ مِن شَجَرٍ مِّن زَقُّومٍ ﴿٥٢﴾

၅၂။ 'ဇက္ကူမ်' ရှားစောင်းခါးပင် စားကြရမည်ဖြစ်၏။

فَمَالِـُٔونَ مِنْهَا الْبُطُونَ ﴿٥٣﴾

၅၃။ တစ်ဖန် (အသင်တို့သည်) ယင်း ရှားစောင်းခါး
ပင်(မှ စားသုံးခြင်း)ဖြင့် ဝမ်းဗိုက်များကို ဖြည့်ကြရ
မည်ဖြစ်၏။

فَشَارِبُونَ عَلَيْهِ مِنَ الْحَمِيمِ ﴿٥٤﴾

၅၄။ တစ်ဖန် (အသင်တို့သည်) ယင်းရှားစောင်းခါး
ပင် စားပြီးနောက် ပွက်ပွက်ဆူလျက်ရှိသော ရေနွေးပူကို
သောက်ကြရမည်ဖြစ်၏။

فَشَارِبُونَ شُرْبَ الْهِيمِ ﴿٥٥﴾

၅၅။ ထိုအခါ (အသင်တို့သည် ထိုပွက်ပွက်ဆူလျက်
ရှိသောရေနွေးပူကို) လွန်စွာ ရေမွတ်သိပ်လျက် ရှိကုန်
သော ကုလားအုတ်များ သောက်သကဲ့သို့ပင် သောက်
ကြရပေမည်။

هَٰذَا نُزُلُهُمْ يَوْمَ الدِّينِ ﴿٥٦﴾

၅၆။ ဤသည်ကား ၎င်းတို့အား အစားပေးသော
နေ့တွင် ဧည့်ခံကျွေးမွေးခြင်းပင် ဖြစ်အံ့သတည်း။ [၁]

نَحْنُ خَلَقْنَاكُمْ فَلَوْلَا
تُصَدِّقُونَ ﴿٥٧﴾

၅၇။ ငါအရှင်မြတ်သည်ပင်လျှင် အသင်တို့အား
ဖန်ဆင်းတော်မူခဲ့၏။ သို့ပါလျက် အသင်တို့သည်
မည်သည့်အတွက်ကြောင့် ဟုတ်မှန်ကြောင်း ဝန်မခံ
ကြလေသနည်း။

أَفَرَءَيْتُم مَّا تُمْنُونَ ﴿٥٨﴾

၅၈။ အသင်တို့ ပြောပြကြကုန်။ အသင်တို့သည်
မိမိတို့သုတ်ရည် အစက်ချကြသည်။

(၁) အထက်တွင် အလွန့်အလွန် မြင့်မြတ်သော သူတော်စင်ကြီးများနှင့် ရိုးရိုးသူတော်စင်များ၏ အကြောင်းပါရှိ၏။ ဤအာယတ်တော်များ (၅၆း၄၁-၅၆) တွင် လက်ဝဲဘက်သား ကာဖိရ်သူယုတ်မာများ၏ အကြောင်းပါရှိ၏။ နောင်တမလွန်ဘဝတွင် ကာဖိရ်သူယုတ်မာများ ခံကြရမည့် ပြစ်ဒဏ်များကား အတိုင်းမသိ ကြောက်မက်ဖွယ် ကောင်းလှဘိတော့၏။ (အလ္လာဟ်အရှင်မြတ်သည် ကျွန်တော်မျိုးတို့အား ဂျဟန္နမ်ငရဲမှ ဖယ်ရှားတော်မူသည် ဖြစ်ပါစေသတည်း။)

| | |
|---|---|
| ءَأَنتُمْ تَخْلُقُونَهُۥٓ أَمْ نَحْنُ ٱلْخَٰلِقُونَ ﴿٥٩﴾ | ၅၉။ ယင်းသုတ်ရည်ကို အသင်တို့ကိုယ်တိုင် (လူဖြစ်အောင်) ဖန်ဆင်းကြလေသလော။ သို့တည်းမဟုတ် ငါအရှင်မြတ်ပင် ဖန်ဆင်းတော်မူပါသလော။ [၁] |
| نَحْنُ قَدَّرْنَا بَيْنَكُمُ ٱلْمَوْتَ وَمَا نَحْنُ بِمَسْبُوقِينَ ﴿٦٠﴾ | ၆၀။ ငါအရှင်မြတ်သည်ပင်လျှင် အသင်တို့ကြား၌ 'မရဏ' *သေဆုံးခြင်းကို တင်ရင်စီမံတော်မူခဲ့၏။* [၂] ထိုမှတစ်ပါး ငါအရှင်မြတ်သည် မစွမ်းနိုင်တော်မူသော အရှင် မဟုတ်ပြီ၊ |
| عَلَىٰٓ أَن نُّبَدِّلَ أَمْثَٰلَكُمْ وَنُنشِئَكُمْ فِى مَا لَا تَعْلَمُونَ ﴿٦١﴾ | ၆၁။ ငါအရှင်မြတ်သည် အသင်တို့ကဲ့သို့သော (အခြား)သူတို့အား ပြောင်းလဲ(ဖန်ဆင်းတော်မူ)ရန် လည်းကောင်း၊ အသင်တို့အား အသင်တို့ပင် မသိကြသော အခြေအနေမျိုး၌ ဖန်ဆင်းတော်မူရန်လည်းကောင်း။ [၃] |
| وَلَقَدْ عَلِمْتُمُ ٱلنَّشْأَةَ ٱلْأُولَىٰ فَلَوْلَا تَذَكَّرُونَ ﴿٦٢﴾ | ၆၂။ ထို့ပြင် ဧကန်စင်စစ် အသင်တို့သည် ပထမအကြိမ် ဖန်ဆင်းတော်မူခြင်းကို ကောင်းမွန်စွာ သိရှိပြီးဖြစ်ကြလျက် မည်သည့်အတွက်ကြောင့် နားမလည်ကြသနည်း။ |

---

(၁) **အသူ ဖန်ဆင်းသနည်း၊**

ဆိုလိုသည်ကား သာမန်အမြင်အားဖြင့် ယောကျ်ားများသည် သားအိမ်များတွင် သုတ်ရည်သွင်းကြသည်။ သို့ရာတွင် သုတ်ရည်တစ်စက်မှ လူဖြစ်လာအောင် အသူပြုလုပ်သနည်း။ သုတ်ရည်တစ်စက်မှ လူဖြစ်အောင် အကြောင်းတရားများကို အသူစီမံဖန်တီးသနည်း။ ဧ.လ္လာဟ်အရှင်မြတ်ပင်။

(၂) ဆိုလိုသည်ကား အလ္လာဟ်အရှင်မြတ်သည်ပင် မရှိရာမှ ရှိရာသို့ စတင်ဖန်ဆင်းတော်မူသည်။ သို့ဖန်ဆင်းတော်မူပြီးနောက် အခွန့်ရှည်စွာ ရပ်တည်နေနိုင်ရန်အတွက် လိုအပ်သည့် အကြောင်းတရားများကိုလည်း ထိုအရှင်မြတ်သည်ပင် စီစဉ်ဖန်တီးထားတော်မူသည်။ ရပ်တည်နေရာမှ သေဆုံး ဆိတ်သုဉ်းသွားအောင် ပြုလုပ်တော်မူခြင်းမှာလည်း ထိုအရှင်မြတ်၏ အစီအစဉ်ပင်။ တစ်နည်းဆိုသော် စတင်ဖန်ဆင်းမှု၊ ရပ်တည်နေစေမှု၊ သေဆုံးစေမှု အစုစုသည် အလ္လာဟ်အရှင်မြတ်၏ လက်တော်တွင်း၌ပင် ရှိပေသတည်း။

(၃) ဆိုလိုသည်ကား အလ္လာဟ်အရှင်မြတ်သည် အလိုရှိတော်မူပါက အသင်တို့၏နေရာတွင် အသင်တို့ကဲ့သို့သော အခြားသူများကို ပြောင်းလဲ၍လည်း ဖန်ဆင်းတော်မူနိုင်ပေသည်။ ထို့ပြင်တစ်ဝ အသင်တို့၏ လက်ရှိ ရုပ်ဆင်းသဏ္ဌာန်များကိုလည်း အလိုတော်ရှိတော်မူပါက ပုံပျက်ပန်းပျက်၊ ဥပမာ တိရစ္ဆာန်ရုပ်များ ပြုလုပ်တော်မူနိုင်ပေသည်။ သို့ပြုလုပ်တော်မူနိုင်ပါလျက်၊ ပြုလုပ်တော်မမူခြင်းမှာ ထိုအရှင်မြတ်၏ ကျေးဇူးတော်ပင်။

ကြည့်-ကုရ်အာန်(၃၆း၆၆-၆၇)

أَفَرَءَيْتُم مَّا تَحْرُثُونَ ٦٣

၆၃။ အသင်တို့သည် မိမိတို့စိုက်ပျိုးကြသည်များကို မြင်ခဲ့ကြလေသလော။

ءَأَنتُمْ تَزْرَعُونَهُۥٓ أَمْ نَحْنُ ٱلزَّٰرِعُونَ ٦٤

၆၄။ ထိုစိုက်ပျိုးထားကြသည့် မျိုးစေ့ကို အသင်တို့ ကိုယ်တိုင် ပေါက်ရောက်စေကြလေသလော။ သို့တည်း မဟုတ်၊ ငါအရှင်မြတ်သည်ပင် ပေါက်ရောက်စေတော် မူသောအရှင်မြတ် ဖြစ်တော်မူပါသလော။

لَوْ نَشَآءُ لَجَعَلْنَٰهُ حُطَٰمًا فَظَلْتُمْ تَفَكَّهُونَ ٦٥

၆၅။ အကယ်၍သာ ငါအရှင်မြတ်သည် အလိုရှိ တော်မူပါလျှင် ယင်းစိုက်ပျိုးခင်းကို စဉ်းထားသော ကောက်ရိုးများ၊ မြက်ခြောက်များ ဖြစ်စေတော်မူခဲ့ပေ မည်။ ထိုအခါ အသင်တို့သည် တွေဝေ ငေးမှိုင်လျက် ရှိကြပေမည်။ ၁

إِنَّا لَمُغْرَمُونَ ٦٦

၆၆။ ဧကန်စင်စစ် ကျွန်ုပ်တို့သည် ကြွေးမြီတင်ခြင်း ဒဏ်ဆောင်စေခြင်း ခံကြရလေပြီ။

بَلْ نَحْنُ مَحْرُومُونَ ٦٧

၆၇။ ထိုသို့ အလျှင်းမဟုတ်၊ စင်စစ်မှာကား ကျွန်ုပ် တို့သည် လက်မဲ့ဖြစ်စေခြင်းကိုပင် ခံကြရလေပြီ(ဟု ပြောဆို ညည်းညူကြပေမည်)။

أَفَرَءَيْتُمُ ٱلْمَآءَ ٱلَّذِى تَشْرَبُونَ ٦٨

၆၈။ အသင်တို့သည် မိမိတို့ သောက်သုံးကြသော ရေကို မြင်ခဲ့ကြလေသလော။

ءَأَنتُمْ أَنزَلْتُمُوهُ مِنَ ٱلْمُزْنِ أَمْ نَحْنُ ٱلْمُنزِلُونَ ٦٩

၆၉။ ထိုရေကို အသင်တို့ကိုယ်တိုင် မိုးတိမ်မှရွာသွန်း စေကြလေသလော၊ သို့တည်းမဟုတ် ငါအရှင်မြတ်ပင် ရွာသွန်းစေတော်မူသောအရှင်ဖြစ်တော်မူပါသလော။ ၂

---

(၁) ဆိုလိုသည်ကား –အလ္လာဟ်အရှင်မြတ်သည် ပင်မျိုးစေ့များကို အံ့ဖွယ်သရဲ ပေါက်ရောက်စေတော်မူ၏။ ရှင်သန်စေတော်မူ၏။ ထွားကျိုင်းကြီးပြင်းစေတော်မူ၏။ သီးပွင့်စေတော်မူ၏။ အကယ်၍ ထိုအရှင်မြတ်သည် အလိုရှိတော်မူပါက၊ ဝေဆာလျက်ရှိသော ယင်းသည့်စိုက်ပျိုးခင်းများကို အစိတ်စိတ် အမွှာမွှာအချည်းနှီး ဖြစ်စေတော်မူနိုင်ပေသည်။ သို့ဖြစ်စေတော်မူပါက သက်ဆိုင်ရာပုဂ္ဂိုလ်များသည် တွေဝေငေးမှိုင်ကြရပေမည်၊ အရှုံးကြီးရှုံးကြရပေမည်၊ လက်မဲ့ဖြစ်ကြရပေမည်။

لَوۡ نَشَآءُ جَعَلۡنَٰهُ أُجَاجٗا فَلَوۡلَا تَشۡكُرُونَ ٧٠

၇၀။ အကယ်၍သာ ငါအရှင်မြတ်သည် အလိုရှိတော်မူပါလျှင် ထိုရေကို ရေငန်ရေခါး ပြုလုပ်တော်မူခဲ့မည်သာ။ သို့ပါလျက် အသင်တို့သည် မည်သည့်အတွက်ကြောင့် ကျေးဇူးမတင်ကြပေသနည်း။ ^၁

أَفَرَءَيۡتُمُ ٱلنَّارَ ٱلَّتِي تُورُونَ ٧١

၇၁။ အသင်တို့သည် မိမိတို့မွေးကြသော မီးကို မြင်ခဲ့ကြလေသလော။

ءَأَنتُمۡ أَنشَأۡتُمۡ شَجَرَتَهَآ أَمۡ نَحۡنُ ٱلۡمُنشِـُٔونَ ٧٢

၇၂။ ထိုမီးထွက်သော သစ်ပင်ကို အသင်တို့ကိုယ်တိုင် ပေါက်ရောက်စေခဲ့ကြလေသလော။ သို့တည်းမဟုတ် ငါအရှင်မြတ်သည်ပင် ပေါက်ရောက်စေတော်မူသောအရှင် ဖြစ်တော်မူပါသလော။

---

(၂) **အသူမိုးရေရွာသွန်းစေသနည်း။**

လူဖြစ်ရာတွင် သာမန်အမြင်အားဖြင့် မိဘနှစ်ပါးသည် တစ်စိတ်တစ်ဒေသ ဆက်စပ်ပါဝင်နေသည်ဟု ထင်မှတ်ရသေး၏။ လယ်ယာစိုက်ပျိုးရာတွင် သက်ဆိုင်ရာ တောင်သူလယ်သမားများ တစ်စိတ်တစ်ဒေသ ပါဝင်နေသည်ဟု ထင်မှတ်ရသေး၏။ မိုးရွာသွန်းရာတွင်မူ အသူမျှ မည်သည့်အဆင့်အတန်းတွင်မျှ မည်သည့်အစိတ်အပိုင်းတွင်မျှ မည်သို့မျှမပါဝင်ချေ။

ဥတုရာသီအလိုက် သူ့အချိန်နှင့်သူ မိုးရွာသွန်းနိုင်ရန်အတွက် လိုအပ်သည့် အပူဓာတ်ကို သမုဒ္ဒရာပင်လယ်တွင် အသူထည့်သွင်းပေးသနည်း။ သမုဒ္ဒရာပင်လယ်များမှ လိုအပ်သည့် ရေခိုးရေငွေ့များကို မိုးကောင်းကင်သို့ အသူတင်ဆောင်သနည်း။ ယင်းသည့် ရေခိုးရေငွေ့များမှလိုအပ်သည့် မိုးတိမ်များကို အသူဖန်တီးသနည်း။ ယင်းသည့်မိုးတိမ်များကို လိုအပ်သောဒေသများသို့ သယ်ဆောင်သွားရန် လေထုအား အသူစေခိုင်းသနည်း။ ယင်းသည့်မိုးတိမ်များမှ လိုအပ်သည့် ရေစိုင်ရေခဲများကို အသူဖန်တီးသနည်း။ ယင်းသည့် ရေစိုင်ရေခဲများမှ လိုအပ်သည့် မိုးသီးမိုးပေါက်ကလေးများအဖြစ် အံ့ဖွယ်သရဲ အသူရွာသွန်းစေသနည်း။ လူမဟုတ်၊ အသူမျှမဟုတ်၊ အလ္လာဟ်အရှင်မြတ်ပင်။ ထိုအရှင်မြတ်၏ ကျေးဇူးတော်ကြောင့်ပင် သက်ရှိသက်မဲ့ အပေါင်းတို့သည် ရေကို သောက်သုံးလျက်ရှိကြသည်။ အမျိုးမျိုး အသုံးပြုကြသည်။ ဤသည်လည်း အလ္လာဟ်အရှင်မြတ်၏ အတိုင်းမသိ ကြီးမားလှဘိသော ကျေးဇူးတော်တစ်ပါးပင်။

(၁) ရေသည်ကြည်လင်သည်၊ ချိုသည်၊ အေးသည်၊ ရသာရှိလှသည်။ အကျိုးများဘိသည်။ ဤသည် အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်ပင်။ အကယ်တန္တိ အလ္လာဟ်အရှင်မြတ်သည် အလိုတော်ရှိတော်မူပါက ဤသည့် ချိုအေးလှသည့် ရေကြည်ရေစင်ကို ရေငန်၊ ရေခါးပြုလုပ်ထားတော်မူသည် ရှိပါသော်၊ ရေချိုကို မှီဝဲနေကြရသော သက်ရှိသက်မဲ့ အပေါင်းသည် ပျက်ပြုန်း ဆိတ်သုဉ်းသွားကြရပေမည်။ ယခုမူ အလ္လာဟ်အရှင်မြတ်၏ကျေးဇူးတော်ဖြင့် ရေချိုသည် ချိုလျက်ပင်ရှိပေသည်။ ထိုအရှင်မြတ်၏ ကျေးဇူးတော်ကား အတိုင်းမသိ ကြီးမားလှဘိတကား။

نَحْنُ جَعَلْنٰهَا تَذْكِرَةً وَّمَتَاعًا لِّلْمُقْوِيْنَ ﴿٧٣﴾

၇၃။ ငါအရှင်မြတ်သည်ပင် ထိုသစ်ပင်ကို သတိရစေသော၊ တရားရစေသောအရာအဖြစ်လည်းကောင်း၊ ခရီးသည်တို့အဖို့ အကျိုးကျေးဇူးရှိစေသောအရာအဖြစ်လည်းကောင်း၊ ပြုလုပ်တော်မူခဲ့၏။ [၁]

فَسَبِّحْ بِاسْمِ رَبِّكَ الْعَظِيْمِ ﴿٧٤﴾

၇၄။ သို့ဖြစ်ပေရာ (အို-နဗီတမန်တော်) အသင်သည် မိမိအား ဖန်ဆင်းမွေးမြူတော်မူသော၊ ကြီးကျယ်မြင့်မြတ်လှတော်မူသော အရှင်မြတ်(၏ နာမံတော်၊ စင်ကြယ် သန့်ရှင်းတော်မူကြောင်း) ချီးမွမ်းမြွက်ဆိုပါလေ။ [၂]

فَلَآ أُقْسِمُ بِمَوٰقِعِ النُّجُوْمِ ﴿٧٥﴾

၇၅။ သို့ဖြစ်ပေရာ ငါအရှင်မြတ်သည် ကြယ်နက္ခတ်တို့၏ဝင်ရာ၊ စခန်းချရာများကို သက်သေထူ(ကျိန်ဆို)တော်မူ၏။ [၃]

---

(၁) ဆိုလိုသည်ကား – မီးသည် အထူးသဖြင့် အိမ်နေ၊ မြို့ခံ၊ ဧည့်သည်၊ ခရီးသွား လူတန်းစားအလွှာလွှာအတွက် အကျိုးများလှ၏။ သတိတရား၊ ရဖွယ်ရာလည်း ကောင်းလှ၏။ ဆိုလိုသည်ကား ဤသည့် ပစ္စက္ခမီးကိုကြည့်၍ နောင်တမလွန်ဘဝ၏ ငရဲမီးကို မြင်ရာ၏။ စိမ်းစိုလတ်ဆတ်သော အပင်မှ မီးကို ဖြစ်စေနိုင်တော်မူသော အရှင်သည် သူသေများအား ပြန်လည်ရှင်ထစေတော်မူနိုင်သည်ကိုလည်း ဆင်ခြင်ရာ၏။

(၂) အထက်ပါ အာယတ်တော်များကို ထောက်ရှုခြင်းအားဖြင့် အလ္လာဟ်အရှင်မြတ်၏ တန်ခိုးတော်များနှင့် ကျေးဇူးတော်များအား အတိုင်းမသိ ကြီးမားများပြားလှသည်များကို ကောင်းစွာ သိရှိရပေသည်။ ယင်းသည့် တန်ခိုးတော်များနှင့် ကျေးဇူးတော်များကို ထောက်ရှုခြင်းအားဖြင့် အလ္လာဟ်အရှင်မြတ်သည် တစ်ပါးတည်း ရှိတော်မူကြောင်း ပြန်လည်ရှင်ထစေတော်မူမည့် အကြောင်းကိုလည်း ကောင်းစွာ သိရှိရပေသည်။

ကျွန်ုပ်တို့သည် အလ္လာဟ်အရှင်မြတ်၏ အတိုင်းမသိ ကြီးမားလှဘိသော တန်ခိုးတော်များနှင့် ကျေးဇူးတော်များကို သိကြရပြီ၊ ယင်းသည့် ကျေးဇူးတော်များကိုလည်း အပြည့်အဝ ခံစားလျက်ရှိကြပြီ၊ သို့ဖြစ်ရာ ကျွန်ုပ်တို့သည် ထိုအရှင်မြတ်အား လိုက်လိုက်လှဲလှဲ ကြည်ညို မြတ်နိုးကြရာသည်။ လိုက်လိုက်လှဲလှဲ ကျေးဇူးတင်ကြရာသည်။ ထိုအရှင်မြတ်၏ တရားတော်များကို ကိုယ်၊ နှုတ်၊ နှလုံးသုံးပါးလုံးဖြင့် နာယူကျင့်မူကြရာသည်။ ထိုအရှင်မြတ်နှင့်ပတ်သက်၍ အချို့ သူယုတ်မာများ အမှားမှား အယွင်းယွင်း ထင်မြင်ယူဆထားခဲ့ကြသည်များမှာ လုံးဝမှားယွင်းကြောင်း၊ ထိုအရှင်မြတ်သည် ချို့တဲ့မှုအပေါင်းမှ လုံးဝစင်ကြယ် သန့်ရှင်း အပြစ်ကင်းတော်မူကြောင်း၊ အတိုင်းမသိ ကြီးကျယ်မြင့်မြတ်တော်မူကြောင်း လိုက်လိုက်လှဲလှဲ ဂုဏ်တော်မွမ်းကြရာသည်။

(၃) ဤအာယတ်တော်၏အစတွင်ပါရှိသော 'လာ' အက္ခရာသည် မဟုတ်၊ မဖြစ်၊ မရှိ ဟူသောအနက်၌ မဟုတ်၊ မှချဧကန်၊ မလွဲမသွေဟူသော အနက်၌ဖြစ်သည်။ ▶▶

၇၆။ စင်စစ်ဆိုသော် ယင်းသို့သက်သေထူခြင်း (ကျိန်ဆိုခြင်း)မှာ အကယ်၍ အသင်တို့သိရှိကြလျှင် ကြီးကျယ်စွာသော သက်သေထူမှု ကျိန်ဆိုမှု)ပင်။

وَإِنَّهُۥ لَقَسَمٌ لَّوْ تَعْلَمُونَ عَظِيمٌ ﴿٧٦﴾

၇၇။ ကေန်မလွဲ ယင်းသည် ဂုဏ်ကျက်သရေနှင့် ပြည့်စုံသော ကုရ်အာန်ကျမ်းတော်မြတ်ပင်။

إِنَّهُۥ لَقُرْءَانٌ كَرِيمٌ ﴿٧٧﴾

၇၈။ မှတ်တမ်းစာအုပ်တစ်ခု၌ ထိန်းသိမ်း စောင့်ရှောက်၍ ထားရှိပြီးဖြစ်သော၊

فِى كِتَٰبٍ مَّكْنُونٍ ﴿٧٨﴾

၇၉။ ယင်း မှတ်တမ်းစာအုပ်ကို စင်ကြယ်သန့်ရှင်းကြသောသူတို့မှတစ်ပါး မည်သူမျှ ထိတွေ့ကြသည် မရှိပြီ။ [၁]

لَّا يَمَسُّهُۥٓ إِلَّا ٱلْمُطَهَّرُونَ ﴿٧٩﴾

---

⮞⮞ ဤအာယတ်တော်၏ အဓိပ္ပါယ်ကို အောက်ပါအတိုင်းပြန်ဆိုကြသည်။

(၁) သို့ဖြစ်ရာ ငါအရှင်မြတ်သည် ကြယ်တာရာများ ဝင်သွားခြင်းကို/ ပျောက်ကွယ်သွားခြင်းကို/ ကြယ်တာရာများ သက်ရောက်ရာ နေရာဌာနများကို သက်သေထူတော်မူ၏။

(၂) သို့ဖြစ်ပေရာ ငါအရှင်မြတ်သည် တမန်တော်များ၏ စိတ်နှလုံးများတွင် အာယတ်တော်များ သက်ရောက်ခြင်းကို သက်သေထူတော်မူ၏။

(၃) သို့ဖြစ်ရာ ငါအရှင်မြတ်သည် ကုရ်အာန်ကျမ်းလာ အာယတ်တော်များကို မိုးကောင်းကင်မှ ကမ္ဘာမြေသို့ တဖြည်းဖြည်း အနည်းငယ်စီ ကျရောက်ခြင်းကို သက်သေထူတော်မူ၏။

ဖော်ပြပါ အဓိပ္ပါယ် အရပ်ရပ်သည် သင့်မြတ်သည်သာဖြစ်သည်။ ဖော်ပြပါ အဓိပ္ပါယ်သုံးရပ်အနက် ပထမနှင့် ဒုတိယအဓိပ္ပါယ်ကို ကောက်ယူပါက ယင်းသည့် အနက်သဘောကို ကုရ်အာန် (၅၃း၁-၂)၏အဖွင့်တွင် အကျယ်ရေးသားခဲ့ပေပြီ။ ပြန်လည်ရှုပါကုန်။ တတိယအဓိပ္ပါယ်ကို ကောက်ယူပါက ယင်းသည့် အနက်သဘောကို ကုရ်အာန်(၁၇း၁၀၆)၏အဖွင့်တွင် အကျယ်ရေးသားခဲ့ပေပြီ၊ ပြန်လည်ရှုပါကုန်။ 'အာယတ်တော်များ သက်ရောက်ရာ ဌာနများ' ဟူသောအဓိပ္ပါယ်ကို ကောက်ယူပါက ဤသည့်သဘောနှင့် စပ်လျဉ်း၍ ကုရ်အာန်(၂း၉၇။၆း၁၂၅။ ၂၆း၁၉၂-၁၉၄)၏ အဖွင့်များကို ပြန်လည်ရှုပါကုန်။

မည်သည့်အနက် အဓိပ္ပါယ်၌ရှိစေ၊ တွေးတောဆင်ခြင် မြော်မြင်တတ်သူများအဖို့ သိရှိနားလည်သဘောပေါက်သူများအဖို့မှာကား၊ ဤသက်သေထူမှုသည် အလွန်ကြီးကျယ်လှပါဘိတကား။

[၁] ကုရ်အာန်ကျမ်းမြတ်သည် ကျက်သရေ မင်္ဂလာပေါင်းနှင့်ပြည့်စုံလှဘိသည်။ 'လောင်ဟ်မဟ်ဖူဇ်' မှတ်တမ်းတော်တွင် လုံခြုံစွာထိန်းသိမ်းထားတော်မူသည်။ ယင်းမှတ်တမ်းတော်ကို အလွန်စင်ကြယ်သန့်ရှင်းသော ကောင်းကင်တမန်များမှတစ်ပါး အခြားမည်သူ တစ်ဦးတစ်ယောက်မျှ ထိတွေ့ရသည်မရှိပေ။

အချို့က 'လယမတ်စ္စုဟူ' ၌ ပါရှိသော 'ဟူ' ဟူသော နာမ်စားသည် ကုရ်အာန်ကျမ်းမြတ်ကိုပင် ရည်ညွှန်းသည်ဟု ဆိုကြသည်။ ဆိုလိုသည်ကား ဤကုရ်အာန်ကျမ်းမြတ်ကို စိတ်နှလုံးသားဖြူစင်သော ⮞⮞

تَنْزِيْلٌ مِّنْ رَّبِّ الْعٰلَمِيْنَ ﴿٨٠﴾

၈၀။ စကြာဝဠာခပ်သိမ်းတို့ကို ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်အထံတော်မှ ချမှတ်ပေးတော်မူခြင်း ခံရလေသော၊

اَفَبِهٰذَا الْحَدِيْثِ اَنْتُمْ مُّدْهِنُوْنَ ﴿٨١﴾

၈၁။ သို့ပါလျက် အသင်တို့သည် ဤအာယတ်တော်ကို မထီမဲ့မြင်ပြုကြလေသလော/ ပျင်းရိနေကြသလော။

وَتَجْعَلُوْنَ رِزْقَكُمْ اَنَّكُمْ تُكَذِّبُوْنَ ﴿٨٢﴾

၈၂။ ထိုမှတစ်ပါး အသင်တို့သည် မဟုတ်မမှန်ဟူ၍ ငြင်းပယ်မှုကိုပင် မိမိတို့၏အစားအစာ ပြုလုပ်ကြလေသလော။ (တစ်နည်း) ထိုမှတစ်ပါး အသင်တို့သည် မိမိတို့ စားနပ်ရိက္ခာနှင့်စပ်လျဉ်း၍ ကျေးဇူးတင်ကြမည့်အစား၊ မဟုတ်မမှန်ဟူ၍ငြင်းပယ်ကြလေသလော၊[၁]

فَلَوْلَآ اِذَا بَلَغَتِ الْحُلْقُوْمَ ﴿٨٣﴾

၈၃။ သို့ဖြစ်လျှင် အသက်ဇီဝိန်သည် လည်မျိုသို့ ရောက်ရှိလာသောအခါ အသင်တို့သည် မည်သည့်အတွက်ကြောင့် (မဟုတ်မမှန်ဟူ၍ ငြင်းပယ်ခြင်း) မပြုကြသနည်း။

---

➤➤ ကိုယ်ကျင့်တရား ကောင်းမြတ်သော ပုဂ္ဂိုလ်များသာလျှင် ထိတွေ့ကြသည်။ ထိုသို့သော ပုဂ္ဂိုလ်များသာလျှင် ကုရ်အာန်ကျမ်းမြတ်၏ အလွန်နက်နဲသိမ်မွေ့သော အနက်သဘောများကို မြော်မြင်နိုင်ကြပေသည်။ ပေါက်ရောက်နိုင်ကြပေသည်။

အချို့က 'လာယမတ်စ္စုဟူ' ဟူသော ဝါကျကို 'ထိုကုရ်အာန်ကျမ်းမြတ်ကို မကိုင်မတွယ်ရ' ဟု ဘာသာပြန်ကြ၏။ ဆိုလိုသည်ကား ကုရ်အာန်ကျမ်းမြတ်ကို သန့်ရှင်းစင်ကြယ်သူများမှတစ်ပါး အခြားမည်သူမျှ မကိုင်မတွယ်ရ။ (ဝါ) 'ဝုဇူ' မရှိသော၊ ကိုယ်ခန္ဓာ မသန့်စင်သောသူများ မကိုင်မတွယ်ရ။ တမန်တော်မြတ်၏ (ဟဒီးဆ်)ဩဝါဒတော်များတွင်လည်း ဤသို့သောပညတ်ချက်များ ပါရှိပေသည်။ ဤဖွင့်ဆိုချက်အရ (လာယမတ်စ္စုဟူ)၌ပါရှိသော 'လာ' ဟူသော အက္ခရာသည် တားမြစ်ခြင်းအနက်၌ ဖြစ်သွားပေမည်။

(၁) အထက်ဖော်ပြပါ ကုရ်အာန်ကျမ်းမြတ်သည် စကြဝဠာအဝှန်းကို ဖန်ဆင်းတော်မူသော၊ ပြုစုပျိုးထောင်တော်မူသော၊ ရပ်တည်စေတော်မူသော၊ ပိုင်ဆိုင်တော်မူသော၊ စိုးမိုးတော်မူသော အလ္လာဟ်အရှင်မြတ်ထံတော်ပါးမှ ထုတ်ပြန်ပို့ချထားတော်မူသော ကျမ်းမြတ်တည်း။ ယင်းသို့သော အတိုင်းမသိ ကြီးကျယ်လှဘိသော၊ မြင့်မြတ်လှဘိသော၊ ကုရ်အာန်ကျမ်းမြတ်လာ တရားတော်များကို နာယူကျင့်မှု၍ အကျိုး အမြတ်ခံစားရာတွင်ပင် အသင်တို့သည် ပျင်းရိနေကြသေးသလော၊ ဖင့်နွဲ့နေကြသေးသလော၊ အထီမဲ့မြင် ပြုနေကြသေးသလော။ ပေါ့ပေါ့ဆဆ ပြုလုပ်နေကြသေးသလော။ အမှန်တရားဟူသမျှကို ဇွတ်မိုက်ကာ အမှားဟူ၍ ပြောဆိုရန် အသင်တို့သည် တစ်ဦးတည်း မှုပိုင်ပြုထားကြလေသလော။ ဤသည် အမိုက်အပေါင်းတို့တွင် အကြီးဆုံးအမိုက်ပင်၊ အမိုက်အပေါင်းတို့၏ ဘုရင်ပင်၊ ကျေးဇူးကန်းမှု အပေါင်းတို့၏ အဓိပတိပင်။

وَأَنتُمْ حِينَئِذٍ تَنظُرُونَ ﴿٨٤﴾

၈၄။ စင်စစ် အသင်တို့သည် ထိုရောအခါဝယ် ကြည့်၍ နေကြကုန်၏။

وَنَحْنُ أَقْرَبُ إِلَيْهِ مِنكُمْ وَلَٰكِن لَّا تُبْصِرُونَ ﴿٨٥﴾

၈၅။ စင်စစ်သော်ကား ငါအရှင်မြတ်သည် အသင်တို့ထက် ပိုမို၍ပင် ထိုသူနှင့် နီးကပ်လျက် ရှိနေတော်မူ၏။ သို့ရာတွင် အသင်တို့သည် မြင်ကြသည် မဟုတ်ပေ။

فَلَوْلَا إِن كُنتُمْ غَيْرَ مَدِينِينَ ﴿٨٦﴾

၈၆။ သို့ဖြစ်ပေရာ အသင်တို့သည် အစားပေးခြင်း ခံရအံ့သောသူများ မဟုတ်(ဟု ဆိုရာ၌) အမှန်ကို ပြောဆိုသူများဖြစ်ကြလျှင် မည်သည့်အတွက်ကြောင့်

تَرْجِعُونَهَا إِن كُنتُمْ صَادِقِينَ ﴿٨٧﴾

၈၇။ ယင်းအသက်ဇီဝိန်ကို ပြန်လည်၍ ယူမထားကြပေသနည်း။ ⓘ

---

① ဆိုလိုသည်ကား ကာဖိရ်များသည် ကုရ်အာန်ကျမ်းလာ တရားတော်များကိုလည်း မယုံကြည်ကြ၊ သေပြီးနောက် ပြန်လည်ရှင်ပြန်ထကြရမည်ကိုလည်း မယုံကြည်ကြ၊ နောင်တမလွန်ဘဝတွင် ကျိုးပြစ်ခံ၊ စံကြရမည်ကိုလည်း မယုံကြည်ကြ၊ တစ်ရက်ငါတို့သည် သေကြရမည်။ အလ္လာဟ်အရှင်မြတ်၏ ရှေ့တော်မှောက်သို့ ရောက်ကြရမည်ကိုလည်း မယုံကြည်ကြ။

တစ်နည်းအားဖြင့် မိမိတို့သည် မည်သူတစ်ဦးတစ်ယောက်၏ အုပ်ချုပ်မှုအာဏာစက်အောက်တွင်မျှ ရှိနေကြသည်မဟုတ်သူဟူ၍ ထင်မှတ်နေကြ၏။ သို့ထင်မှတ်နေကြလျှင်၊ ယင်းသို့သော ကာဖိရ်များတွင် ၎င်းတို့၏ ခင်မင်ရင်းနှီးသော မိတ်ဆွေတစ်ဦးသည် သေအံ့ဆဲဆဲ ဖြစ်နေ၏။ အသက်ဇီဝိန်သည် လည်မျိုသို့ ရောက်ရှိနေ၏။ သေခြင်းတရား၏ဒုက္ခကို အကြီးအကျယ် ခံစားနေရ၏။ အသင်တို့ကိုယ်တိုင် မိမိတို့၏ မိတ်ဆွေ၏ သေခြင်း၏ဒုက္ခကို ရင်တမမ ဝိုင်းအုံကြည့်နေကြ၏။ ထိုအချိန်မှာပင် အလ္လာဟ်အရှင်မြတ်နှင့် ထိုအရှင်မြတ်၏ ကောင်းကင်တမန်များသည် အသင်တို့၏ မိတ်ဆွေထံ၌ အသင်တို့ထက်ပင် ပိုမိုနီးကပ်စွာရှိနေကြ၏။ အသင်တို့ကား မမြင်ကြပေ။

အကယ်၍ အသင်တို့ထင်မြင်ယူဆထားကြသကဲ့သို့၊ အသင်တို့သည် မည်သူ၏ အာဏာစက်အောက်တွင်မျှ ရှိနေကြသည်မဟုတ်ပါသော်၊ အသင်တို့သည် မိမိတို့၏ မိတ်ဆွေ၏ အသက်ဇီဝိန်ကို အဘယ်ကြောင့် အထွက်ခံကြသနည်း။ အဘယ်ကြောင့် တားဆီးမထားကြသနည်း။ ယင်းသည့် အသက်ဇီဝိန်ကို ထိုမိတ်ဆွေထံ ပြန်လည်ယူဆောင်လာပြီးလျှင် ထိုမိတ်ဆွေအား ကျိုးပြစ်ခံ၊စံခြင်းမှ အဘယ့်ကြောင့် မကာကွယ်ကြသနည်း။ အသင်တို့သည် မှန်ကန်စွာ ပြောဆိုသူများဖြစ်ကြပါက ဤသို့ ပြုလုပ်ပြကြရာသည်။

(ကြည့်-အုတ်ဆ်မာနီ၊ထာနဝီ)။

| | |
|---|---|
| ၈၈။ တစ်ဖန် မည်သို့ပင်ဖြစ်စေ၊ အကယ်၍ ထို (သေဆုံးသော) သူသည် နီးကပ်သောသူတို့တွင် ပါဝင်ခဲ့သည်ရှိသော်၊ | فَأَمَّآ إِن كَانَ مِنَ ٱلْمُقَرَّبِينَ ﴿٨٨﴾ |
| ၈၉။ သို့ဖြစ်လျှင် (ထိုသူ၏အဖို့) ချမ်းသာမှုသည်လည်းကောင်း၊ အစားအစာသည်လည်းကောင်း၊ မွေ့လျော် စံပျော်ရာ 'ဂျန္နတ်' သုခဘုံသည်လည်းကောင်း၊ ရှိချေမည်။ | فَرَوْحٌ وَرَيْحَانٌ وَجَنَّتُ نَعِيمٍ ﴿٨٩﴾ |
| ၉၀။ ၎င်းပြင် အကယ်၍ ထိုသူသည် လက်ယာဘက်သားတို့တွင် ပါဝင်ခဲ့သူ၊ | وَأَمَّآ إِن كَانَ مِنْ أَصْحَٰبِ ٱلْيَمِينِ ﴿٩٠﴾ |
| ၉၁။ သို့ဖြစ်လျှင် (အသင်သည်) လက်ယာဘက်သားတို့တွင် ပါဝင်သောကြောင့် အသင့်အဖို့ ငြိမ်းချမ်းမှုသည် ရှိပေမည်(ဟု သတင်းပြောကြားခြင်းကို ခံရပေမည်။) | فَسَلَٰمٌ لَّكَ مِنْ أَصْحَٰبِ ٱلْيَمِينِ ﴿٩١﴾ |
| ၉၂။ သို့ရာတွင် အကယ်၍ ထိုသူသည် လမ်းမှားကြကုန်သော၊ မဟုတ်မမှန်ဟူ၍ ငြင်းပယ်ကြကုန်သော၊ သူတို့အနက်တွင် အပါအဝင် ဖြစ်ခဲ့သည်ရှိသော်၊ | وَأَمَّآ إِن كَانَ مِنَ ٱلْمُكَذِّبِينَ ٱلضَّآلِّينَ ﴿٩٢﴾ |
| ၉၃။ (ထိုသူအား) ပွက်ပွက်ဆူ၍နေသော ရေနွေးပူဖြင့် ဧည့်ခံခြင်းသည်လည်းကောင်း၊ | فَنُزُلٌ مِّنْ حَمِيمٍ ﴿٩٣﴾ |
| ၉၄။ အလျှံပြောင်ပြောင် တောက်လောင်လျက် ရှိသော မီးထဲသို့ ဝင်ရောက်စေခြင်းသည်လည်းကောင်း၊ ရှိပေမည်။ | وَتَصْلِيَةُ جَحِيمٍ ﴿٩٤﴾ |
| ၉၅။ ဧကန်မလွဲ ဤသည် ထင်ရှားသော အမှန်ပင်ဖြစ်၏။ [၁] | إِنَّ هَٰذَا لَهُوَ حَقُّ ٱلْيَقِينِ ﴿٩٥﴾ |

(၁) ဆိုလိုသည်ကား- ကာဖိရ်များ၏ ထင်မြင်ချက်များသည် အားလုံးအမှားချည်းသာ။ လူတိုင်းသည် အချိန်ကျရောက်လာသည့်အခါ သေရမည်သာဖြစ်၏။ ကိယာမတ်နေ့တွင် ပြန်လည်ရှင် ထရမည်သာ ဖြစ်၏။ ကျိုးပြစ်၊ ခံ၊ စံရမည်သာဖြစ်၏။ အုပ်စုသုံးခုအနက်၊ တစ်ခုခုတွင် အပါအဝင်ဖြစ်မည်သာဖြစ်၏။ ➢➢

فَسَبِّحْ بِاسْمِ رَبِّكَ الْعَظِيمِ ﴿٩٦﴾

၉၆။ သို့ဖြစ်ပေရာ (အို-နဗီတမန်တော်)၊ အသင်သည် မိမိအား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ် (၏နာမံတော်-စင်ကြယ် သန့်ရှင်းတော်မူကြောင်း) ချီးမွမ်းမြွက်ဆိုပါလေ။ ၁

➤➤ (အုပ်စုသုံးခုအကြောင်း၊ ကုရ်အာန်(၅၆း၇-၅၆) တွင် အကျယ်တဝင့်ပါရှိ၏။)

အကယ်၍ ထိုသူသေသည် (မုကရ်ရဗီန်) သူတော်စင်ကြီးများ အုပ်စုတွင်အပါအဝင် ဖြစ်သော်၊ အတိုင်းမသိ၊ ကြီးမားလှဘိသော ရုပ်-နာမ်ဆိုင်ရာ အံ့မခန်းသော သုခအဖြာဖြာကို အမြဲထာဝရ ခံစားရမည်ဖြစ်၏။ အကယ်၍ ထိုသူသေသည် ရိုးရိုးသူတော်စင်များတွင်အပါအဝင် ဖြစ်သော်၊ သို့တစေလည်း ပူပန် သောကစိုးရိမ်ဖွယ်ရာမရှိ၊ ဘေးရန်ခပ်သိမ်း ကင်းငြိမ်းမည်သာ ဖြစ်၏။

အကယ်၍ ထိုသူသေသည် မဟုတ်မမှန်ဟူ၍ ငြင်းပယ်ပြောဆိုသူများ၊လမ်းလွဲမှားသူများတွင် အပါအဝင်ဖြစ်သော်၊ ထိုသူမှာကား ပွက်ပွက်ဆူလျက်ရှိသော ရေပူဖြင့် ဧည့်ခံခြင်း ခံရပေမည်။ အလျှံပြောင်ပြောင် တောက်လောင်လျက်ရှိသော ငရဲသို့ အမြဲထာဝစဉ် လားရပေမည်။ ဤကား မလွဲဧကန် အမှန်တည်း။

① သို့ဖြစ်ရာ ကျွန်ုပ်တို့သည် အလ္လာဟ်အရှင်မြတ်ထံတော်၌ ချဉ်းကပ်ကြရမည်သာ ၊ ထိုအရှင်မြတ်အား ဂုဏ်တော်မွမ်းကြရမည်သာ၊ ဤသည်ပင် နောင်တမလွန်ဘဝ၏ ကောင်းစားရေး အတွက် ကြိုတင်ပြင်ဆင်မှုပင်။

ဤတွင် ဂုဏ်တော်မွမ်းနိုင်ရန်အလို့ငှာ အကြောင်းအားလျော်စွာ အေမာမ် ဗုခါရီသခင်က မိမိ၏ကျမ်း၏ နိဂုံးချုပ်တွင်ဖော်ပြထားသည့် တမန်တော်မြတ်၏ ဩဝါဒတော် တစ်ပါးကို ထည့်သွင်းဖော်ပြလိုက်ပါသည်။

သာဝကကြီး အဗူဟုရိုင်ရဟ်သခင်ထံမှ တစ်ဆင့် ကြားသိရ၏။ တမန်တော်မြတ်က (အလ္လာဟ် အရှင်မြတ်သည် တမန်တော်မြတ်အပေါ်သို့ ကောင်းချီး ချမ်းသာမင်္ဂလာအဖြာဖြာ ချီးမြှင့်တော်မူပါစေ) မိန့်ကြားတော်မူခဲ့သည်မှာ - စကားကြီးနှစ်ခွန်းရှိ၏။ ထိုစကားကြီး နှစ်ခွန်းသည် နှုတ်လျှာအပေါ်တွင်ပေါ့ပါး၏။ "မီဇာန်" ချိန်ခွင်တွင် လေး၏။ "ရဟ်မာန်" အထူးကရုဏာတော်ရှင် ထံတော်ပါးတွင် နှစ်မြို့ဖွယ်ရာဖြစ်၏။ ထိုစကားကြီး နှစ်ခွန်းကား ဤသို့တည်း ၊ စွဗ်ဟာနလ္လာဟိ ဝဗိဟမ်ဒိဟီ၊ စွဗ်ဟာနလ္လာဟိလ်အဇီမ်။(ဗုခါရီကျမ်း)။

# သံကဏ္ဍ

سُوْرَةُ الْحَدِيْدِ

ဤကဏ္ဍသည် "အလ်ဟဒီဒ်" သံကဏ္ဍမည်၏။ မဒီနာမြို့တော်၌ ကျရောက်ခဲ့၏။ ဤကဏ္ဍတွင် အာယတ်တော် (၂၉)ပါး၊ ရကူအ်အပိုဒ် (၄)ပိုဒ် အသီးသီးပါရှိ၏။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ ○

အလွန်တရာ သနားကြင်နာ ညှာတာတော်မူသော၊ အထူး ကရုဏာပြုတော်မူသော အလ္လာဟ်အရှင်မြတ်၏ နာမံတော်ဖြင့် အစပြုပါ၏။

سَبَّحَ لِلّٰهِ مَا فِي السَّمٰوٰتِ وَالْاَرْضِ ۚ وَهُوَ الْعَزِيْزُ الْحَكِيْمُ ①

၁။ မိုးကောင်းကင်များ၌ ရှိသမျှတို့သည်လည်းကောင်း၊ ပထဝီမြေ၌ရှိသမျှတို့သည် လည်းကောင်း၊ အလ္လာဟ်အရှင်မြတ် စင်ကြယ် သန့်ရှင်းတော်မူကြောင်း မြွက်ဆို ချီးမွမ်းကြကုန်၏။ ၎င်းပြင် ထိုအရှင်မြတ်သည်ပင် အလွန်တရာ နိုင်နင်း လွှမ်းမိုးတော်မူသော အရှင်၊ လွန်စွာ နူးညံ့သိမ်မွေ့သော ဆင်ခြင်တုံတရားနှင့် ပြည့်စုံတော်မူသောအရှင် ဖြစ်တော်မူ၏။

لَهٗ مُلْكُ السَّمٰوٰتِ وَالْاَرْضِ ۚ يُحْيٖ وَيُمِيْتُ ۚ وَهُوَ عَلٰى كُلِّ شَيْءٍ قَدِيْرٌ ②

၂။ မိုးကောင်းကင်များကို လည်းကောင်း၊ ကမ္ဘာမြေကိုလည်းကောင်း၊ စိုးမိုးအုပ်ချုပ်မှုအာဏာသည် ထိုအရှင်မြတ်၌သာရှိ၏။ ထိုအရှင်မြတ်သည်ပင် အသက်ရှင်စေတော်မူ၏။ ထိုနည်းတူစွာ ထိုအရှင်မြတ်သည်ပင် အသက်သေဆုံးစေတော်မူ၏။ ထို့မှတစ်ပါး ထိုအရှင်မြတ်သည်ပင် အရာခပ်သိမ်းတို့ကို စွမ်းနိုင်တော်မူသော အရှင်၊ ဖြစ်တော်မူ၏။

هُوَ الْاَوَّلُ وَالْاٰخِرُ وَالظَّاهِرُ وَالْبَاطِنُ ۚ وَهُوَ بِكُلِّ شَيْءٍ عَلِيْمٌ ③

၃။ ထိုအရှင်မြတ်သည်ပင် အဦးဆုံး ဖြစ်တော်မူသောအရှင်မြတ်သည် လည်းကောင်း၊ နောက်ဆုံး၌ရှိနေတော်မူအံ့သော အရှင်မြတ်သည် လည်းကောင်း၊ ထင်ရှားစွာ ရှိနေတော်မူသောအရှင်မြတ်သည် လည်းကောင်း၊ ကွယ်၍နေတော်မူသော အရှင်မြတ်သည်

လည်းကောင်း၊ ဖြစ်တော်မူ၏။ ထိုမှတစ်ပါး ထိုအရှင်မြတ်သည်ပင် အရာခပ်သိမ်းတို့ကို အကြွင်းမဲ့ သိရှိတော်မူသောအရှင် ဖြစ်တော်မူပေသတည်း။ [၁]

၄။ ထိုအရှင်မြတ်သည်ပင် မိုးကောင်းကင်များကိုလည်းကောင်း၊ ပထဝီမြေကိုလည်းကောင်း၊ ခြောက်ရက်အတွင်း ဖန်ဆင်းတော်မူခဲ့သော အရှင်မြတ်ဖြစ်တော်မူ၏။ ထို့နောက် ထိုအရှင်မြတ်သည် 'အရ်ရှ်' ပလ္လင်တော်ထက်ဝယ် စံမြန်းတော်မူခဲ့၏။

هُوَ الَّذِىْ خَلَقَ السَّمٰوٰتِ وَالْاَرْضَ فِىْ سِتَّةِ اَيَّامٍ ثُمَّ اسْتَوٰى عَلَى الْعَرْشِ ۚ يَعْلَمُ

---

(၁) ဂုဏ်တော်များ(က)

အလ္လာဟ်အရှင်မြတ်၏ ဂုဏ်တော်များကား အတိုင်းမသိ ကြီးမားဘိ၏။ မရေတွက်နိုင်အောင် များပြားဘိ၏။ ထိုအရှင်မြတ်သည် အရာခပ်သိမ်းကုန်တို့ကို နိုင်နင်းလွှမ်းမိုးတော်မူ၏။ ထိုအရှင်မြတ်၌ ချုပ်ချယ်မှု၊ ဖိနှိပ်မှု၊ အဟန့်အတားဟူ၍ တစ်စုံတစ်ရာမျှ အလျှင်းမရှိ၊

ထိုအရှင်မြတ်သည် အတိုင်းမသိ နူးညံ့တော်မူ၏။ သိမ်မွေ့တော်မူ၏။ ဆင်ခြင်တုံတရားနှင့် ပြည့်စုံတော်မူ၏။ ထိုအရှင်မြတ်သည် ပြုစီရင်တော်မူသမျှသည် ကျိုးကြောင်း ဆင်ခြင်တုံတရားနှင့် ပြည့်စုံလှသည်သာဖြစ်၏။

မိုးမြေနှင့်တကွ စကြဝဠာအပေါင်းကို ထိုအရှင်မြတ်သာလျှင် ပိုင်ဆိုင်တော်မူ၏။ ထိုအရှင်မြတ်သည်ပင် ရှင်စေတော်မူ၏။ ထိုအရှင်မြတ်သည်ပင် သေစေတော်မူ၏။ ထိုအရှင်မြက်သည်ပင် အရာရာကိုပြုစွမ်းတော်မူနိုင်၏။ ထိုအရှင်မြတ်သည်ပင် အစပထမဖြစ်တော်မူ၏။ ထိုအရှင်မြတ်သည်ပင် အဆုံးအဖြတ်ဖြစ်တော်မူ၏။

ထိုအရှင်မြတ်သည်ပင် တစ်စုံတစ်ရာမရှိမီအလျှင်ကလည်း တည်ရှိနေတော်မူ၏။ ထိုအရှင်မြတ်သည်ပင် အရာခပ်သိမ်းပျက်ပြုန်း ဆိတ်သုဉ်းသွားပြီးနောက်တွင်လည်း တည်ရှိနေတော်မူမည်ဖြစ်၏။ ထာဝရ ဖြစ်တော်မူ၏။ ထိုအရှင်မြတ်သည် ထင်ရှားစွာရှိတော်မူ၏။ ထိုအရှင်မြတ်သည် ဖုံးကွယ်လျက်ရှိတော်မူ၏။ အကြောင်းသော်ကား အရာခပ်သိမ်းတို့၏ ဖြစ်ရှိမှုသည် ထိုအရှင်မြတ်၏ တည်ရှိမှု၏အကျိုးပင်ဖြစ်၏။

ထိုအရှင်မြတ်သည် ဖြစ်ရှိမှုအကြောင်းအစုစု၏ (Ultimate Cause) အဆုံးစွန်အကြောင်းပင် ဖြစ်တော်မူ၏။ ထိုအရှင်မြတ်၏ သက်သေအထောက်အထား နိမိတ်လက္ခဏာများသည် အထင်သား အမြင်သားဖြစ်၏။

သို့ရာတွင် ထိုအရှင်မြတ်၏ မူလဇာတိတော်နှင့် ဂုဏ်တော်များကိုမူကား အတိအကျ အသူမျှ မသိနိုင်ပေ။ ဤသို့ဖြင့် ထိုအရှင်မြတ်သည် ထင်ရှားလျက်လည်းရှိတော်မူ၏။ ဖုံးကွယ် လျက်လည်းရှိတော်မူ၏။

ထိုအရှင်မြတ်သည် အရာခပ်သိမ်းကုန်တို့ကို အကြွင်းမဲ့ သိတော်မူ၏။ ထိုအရှင်မြတ်၏ အသိဉာဏ်တော်မှ ဖုံးကွယ် လွတ်ကင်းနေသောအရာဟူ၍အလျှင်းမရှိ၊ တန်ခိုးတော် ဂုဏ်တော်များကြောင့်ပင် မိုး၊ မြေ၊ စကြဝဠာအဝှန်းရှိ အရာခပ်သိမ်းကုန်တို့သည် ထိုအရှင်မြတ်အား ကိုယ့်နည်းကိုယ့်ဟန်နှင့် ဂုဏ်တော်ချီးမွမ်းလျက်ရှိကြကုန်၏။ အလ္လာဟ်အရှင်မြတ်ကား အတိုင်းမသိ ဂုဏ်တော်ချီးမွမ်းအပ်ပါတကား။

مَا يَلِجُ فِي الْأَرْضِ وَمَا يَخْرُجُ مِنْهَا وَمَا يَنْزِلُ مِنَ السَّمَاءِ وَمَا يَعْرُجُ فِيهَا ۖ وَهُوَ مَعَكُمْ أَيْنَ مَا كُنْتُمْ ۚ وَاللَّهُ بِمَا تَعْمَلُونَ بَصِيرٌ ④

ထိုအရှင်မြတ်သည် ပထဝီမြေ၌ဝင်သောအရာကိုလည်းကောင်း၊ ယင်းပထဝီမြေမှထွက်သောအရာကိုလည်းကောင်း၊ မိုးကောင်းကင်မှ ဆင်းသက်လာသောအရာကိုလည်းကောင်း၊ ယင်းမိုးကောင်းကင်သို့ တက်သောအရာကိုလည်းကောင်း၊ သိရှိတော်မူ၏။

၎င်းပြင် ထိုအရှင်မြတ်သည် အသင်တို့ရှိကြသော မည်သည့်နေရာ၌မဆို အသင်တို့နှင့်အတူ ရှိနေတော်မူ၏။ ထိုမှတစ်ပါး အလ္လာဟ်အရှင်မြတ်သည် အသင်တို့ ကျင့်မူသမျှတို့ကို အကြွင်းမဲ့ သိမြင်တော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူ၏။

لَهُ مُلْكُ السَّمَاوَاتِ وَالْأَرْضِ ۚ وَإِلَى اللَّهِ تُرْجَعُ الْأُمُورُ ⑤

၅။ မိုးကောင်းကင်များကို လည်းကောင်း၊ ပထဝီမြေကိုလည်းကောင်း၊ စိုးမိုးအုပ်ချုပ်မှု အာဏာသည် ထိုအရှင်မြတ်၌သာရှိ၏။ ထိုမှတစ်ပါး အရေးကိစ္စအလုံးစုံတို့မှာ ထိုအရှင်မြတ် အထံတော်သို့သာလျှင် ပြန်လည် ရောက်ရှိကြရပေမည်။

يُولِجُ اللَّيْلَ فِي النَّهَارِ وَيُولِجُ النَّهَارَ فِي اللَّيْلِ ۚ وَهُوَ عَلِيمٌ بِذَاتِ الصُّدُورِ ⑥

၆။ ထိုအရှင်မြတ်သည်ပင် (အချို့သောရာသီဥတု၌) ညဥ့်(၏ အစိတ်အပိုင်းအချို့)ကို နေ့၏အတွင်းဝယ် ထည့်သွင်းတော်မူ၏။ ထိုနည်းတူစွာ ထိုအရှင်မြတ်သည်ပင် (အချို့သောရာသီဥတု၌) နေ့(၏အစိတ်အပိုင်းအချို့)ကို ညဥ့်၏အတွင်းဝယ် ထည့်သွင်းတော်မူ၏။ ထိုမှတစ်ပါး ထိုအရှင်မြတ်သည် စိတ်နှလုံးများအတွင်း၌ရှိသည်တို့ကိုပင် အကြွင်းမဲ့သိရှိတော်မူသောအရှင် ဖြစ်တော်မူပေသတည်း။[1]

---

① ဂုဏ်တော်များ(ခ)

အလ္လာဟ်အရှင်မြတ်သည်ပင် မိုးများနှင့်မြေကို ၆ရက်အတွင်း ဖန်ဆင်းတော်မူ၏။

ကြည့်-ကုရ်အာန် (၇:၅၄။၁၀:၃။၁၁:၇။၂၅:၅၉။၃၂:၄။၅၀:၃၈)။

ထိုအရှင်မြတ်သည် 'အရ်ရှ်' ပလ္လင်တော်ပေါ်၌စံမြန်းတော်မူလျက်ရှိတော်မူ၏။ (ထိုအရှင်မြတ်၏ ➢➢

ءَامِنُوا بِاللَّهِ وَرَسُولِهِ وَأَنفِقُوا مِمَّا جَعَلَكُم مُّسْتَخْلَفِينَ فِيهِ ۖ فَالَّذِينَ ءَامَنُوا مِنكُمْ وَأَنفَقُوا لَهُمْ أَجْرٌ كَبِيرٌ ⑦

၇။ အသင်တို့သည် အလ္လာဟ်အရှင်မြတ်အား
လည်းကောင်း၊ ထိုအရှင်မြတ်၏ ရစူလ်တမန်တော်မြတ်
အားလည်းကောင်း၊ သက်ဝင်ယုံကြည် ကြလေကုန်။
ထို့ပြင် အသင်တို့သည် အကြင်ဥစ္စာပစ္စည်းအနက်မှ
သုံးစွဲ လှူဒါန်းကြလေကုန်။ ထိုအရှင်မြတ်သည်
အသင်တို့အား ယင်းပစ္စည်းဥစ္စာများနှင့် စပ်လျဉ်း၍
ကိုယ်စားလှယ်များအဖြစ် ခန့်အပ်တော်မူခဲ့၏။ စင်စစ်
အသင်တို့အနက်မှ အကြင်သူတို့သည် သက်ဝင်ယုံ
ကြည်ခဲ့ကြကုန်၏။ ၎င်းပြင် ထိုသူတို့သည် သုံးစွဲ
လှူဒါန်းခဲ့ကြကုန်၏။ ထိုသူတို့အဖို့ ကြီးကျယ်လှစွာ
သောအကျိုးသည် ရှိပေမည်။ [၁]

---

➤➤ အာဏာစက်သည် အရာခပ်သိမ်းကုန်တို့တွင် တည်လျက်ရှိ၏။) ကြည့် ကုရ်အာန်(၇း၅၄။၁၀း၃။ ၁၃း၂။၂၀း၅။၂၅း၅၉။၃၂း၄။၅၇း၄)

ထိုအရှင်မြတ်သည် မြေတွင်းသို့ဝင်သည်တို့ကိုလည်းကောင်း၊ မြေမှထွက်သည်တို့ကိုလည်းကောင်း၊ မိုးမှ သက်ဆင်းသည်တို့ကိုလည်းကောင်း၊ မိုးသို့ တက်ရောက်သည်တို့ကိုလည်းကောင်း၊ အကြွင်းမဲ့သိတော်မူ၏။ ကြည့်-ကုရ်အာန်(၃၄း၂)။

ထိုအရှင်မြတ်သည် အဘယ်မှာမဆို အသင်တို့ရှိကြသည့်နေရာတွင် အသင်တို့နှင့်အတူပင်ရှိတော်မူ၏။ အသင်တို့ပြုမူကြသည်များကိုလည်း သိမြင်တော်မူ၏။ မိုးမြေနှင့်တကွ စကြဝဠာအဝှန်းကို ပိုင်ဆိုင်တော်မူ၏။ အရေးကိစ္စအဝဝသည် နောက်ဆုံးတွင် ထိုအရှင်မြတ်ထံတော်သို့ပင် ပြန်လည်ရောက်ရှိမည်ဖြစ်၏။ (ထိုအရှင်မြတ်သည်ပင် အဆုံးအဖြတ်ပေးတော်မူမည်ဖြစ်၏)။ ထိုအရှင်မြတ်သည် ဥတုရာသီအလိုက် နေ့နှင့်ညဉ့်ကို ပြောင်းလဲ၍ တိုစေတော်မူ၏။ ရှည်စေတော်မူ၏။ ကြည့်-ကုရ်အာန်(၂၂း၆၁။၃၁း၂၉။၃၅း၁၃)။ ထိုအရှင်မြတ်သည် စိတ်နှလုံးသားများတွင် ဖြစ်ပေါ်နေသည့် အတွေးအခေါ် အကြံအစည်များကိုပင် အကြွင်းမဲ့ အလုံးစုံ သိရှိတော်မူ၏။ အလ္လာဟ်အရှင်မြတ်၏ ဂုဏ်တော်များကား ကြီးကျယ်မြင့်မြတ်တော်မူ၏။ အလ္လာဟ်အရှင်မြတ်ကား အတိုင်းမသိ ဂုဏ်တော်မွမ်းအပ်ပါဘိတကား။

① အထက်တွင် 'တောင်ဟီးဒ်' နှင့် စပ်လျဉ်းသည့် သက်သေခံ အထောက်အထားများ ထင်ရှားလျက်ရှိချေပြီ၊ ထို့ပြင်တစ်ဝ ထိုအရှင်မြတ်၏ အာယတ်တော်များကို ထိုအရှင်မြတ်စေလွှတ်တော်မူသော တမန်တော်များမှတစ်ဆင့် ကြားနာကြရသည်မှာလည်း အထင်အရှားပင်။ ထို့အတွက်ကြောင့် 'အသင်တို့သည် အလ္လာဟ်အရှင်မြတ်အား လည်းကောင်း၊ ထိုအရှင်မြတ်၏တမန်တော်အားလည်းကောင်း၊ (အီမာန်)သက်ဝင်ယုံကြည်ကြကုန်လော့' ဟု အတိအလင်း အမိန့်ပေးထားတော်မူခြင်း ဖြစ်သည်။

အလ္လာဟ်အရှင်မြတ်နှင့် ထိုအရှင်မြတ် စေလွှတ်တော်မူသော တမန်တော်အား သက်ဝင်ယုံကြည်ပါက ယင်းယုံကြည်မှုကို လက်တွေ့ အထောက်အထားပြနိုင်ရန် အလို့ငှာ ထိုအရှင်မြတ်က မိမိတို့ထံ ခေတ္တခဏ ➤➤

وَمَا لَكُمْ لَا تُؤْمِنُونَ بِاللَّهِ ۚ وَالرَّسُولُ يَدْعُوكُمْ لِتُؤْمِنُوا بِرَبِّكُمْ وَقَدْ أَخَذَ مِيثَاقَكُمْ إِن كُنتُم مُّؤْمِنِينَ ⑧

၈။ စင်စစ်သော်ကား အသင်တို့ သက်ဝင်ယုံကြည်ခြင်းမရှိကြသည်မှာ အသင်တို့၌ မည်သည့်အကြောင်းရှိပေသနည်း။ အမှန်စင်စစ်သော်ကား အသင်တို့သည် မိမိတို့ကို ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်အား သက်ဝင်ယုံကြည်ကြရန် ရစူလ်တမန်တော်မြတ်သည် အသင်တို့အား ဖိတ်ခေါ်လျက်ရှိပေသည်။ ထိုမှတစ်ပါး မလွဲဧကန် ထိုအရှင်မြတ် ကိုယ်တော်တိုင်ပင် အသင်တို့ထံမှ ကတိဝန်ခံချက်ကို ယူထားတော်မူပြီး ဖြစ်ပေသည်။ အကယ်၍ အသင်တို့သည် သက်ဝင်ယုံကြည်အံ့သောသူများ ဖြစ်ကြပါလျှင်၊ [၁]

---

►► ထိန်းသိမ်းရန် အပ်နှင်းထားတော်မူသည့် ဥစ္စာပစ္စည်းများအနက် အချို့အဝက်ကို ထိုအရှင်မြတ်၏ လမ်းတော်တွင် ရက်ရောစွာ လှူဒါန်းကြရပေမည်။ သို့မဟုတ်ပါမူ ကျွန်တော်မျိုးသည် အလ္လာဟ်အရှင်မြတ်အား ယုံကြည် မြတ်နိုးပါသည်' ဟု နှုတ်မှ ဖွင့်ဟပြောဆိုသော ယုံကြည်ချက်မှာ အသို့လျှင် အဓိပ္ပာယ်ရှိနိုင်အံ့နည်း။

ဤတွင် အထူးတလည် သတိပြုအပ်သည့် အချက်တစ်ရပ်မှာ၊ ယခုမိမိတို့၏ လက်ဝယ်၌ ရှိနေသော ဥစ္စာပစ္စည်းသည် တစ်ချိန်က သူတစ်ပါးတို့၏လက်ဝယ်၌ ရှိနေခဲ့၏။ သူတစ်ပါးတို့လက်ဝယ်မှ အဆင့်ဆင့် ပြောင်းကာ မိမိတို့လက်ဝယ်သို့ ရောက်ရှိခြင်းသာဖြစ်၏။

ယင်းသို့ သူတစ်ပါးတို့လက်ဝယ်မှ မိမိတို့လက်ဝယ်သို့ အဆင့်ဆင့် ရောက်ရှိလာသော ဥစ္စာပစ္စည်းသည် တစ်ချိန် မိမိတို့လက်ဝယ်မှ သူတစ်ပါးတို့လက်ဝယ်သို့ ပြန်လည်ရောက်ရှိသွားဦးမည်ပင် ဖြစ်၏။ 'ဥစ္စာပစ္စည်းကား မျက်နှာများလှပါဘိတကား' ကျွန်ုပ်တို့သည် သူတစ်ပါးတို့၏ အမွေဆက်ခံသူများ ဖြစ်ကြပေရာ၊ မကြာမီ ကျွန်ုပ်တို့၏ အမွေကို ဆက်ခံမည့်သူများလည်း ပေါ်လာကြမည်ဖြစ်၏။ အမှန်မှာ မိမိတို့လက်ဝယ်ရှိ ဥစ္စာပစ္စည်း(နှင့်တကွ အရာခပ်သိမ်းကုန်တို့ကိုပါ) ပိုင်ဆိုင်တော်မူသော အရှင်မှာ အလ္လာဟ်အရှင်မြတ်ပင် ဖြစ်တော်မူ၏။ ကျွန်ုပ်တို့မူ ခေတ္တခဏ ဆက်ခံထိန်းသိမ်းထားကြရသော ဥစ္စာထိန်း ဘဏ္ဍာထိန်းများသာလျှင် ဖြစ်ကြ၏။ ပိုင်ရှင်ကား မဟုတ်ကြပေ။ ထို့ပြင်တစ်ဝ မိမိတို့လက်ဝယ်ရောက်ရှိနေသော ဥစ္စာပစ္စည်းသည်လည်း မကြာမီအတွင်း သူတစ်ပါးလက်ဝယ်သို့ ရွှေ့ပြောင်းရောက်ရှိသွားမည့် အာဂန္တုမျှသာ ဖြစ်၏။ သို့ဖြစ်ရာ ကျွန်ုပ်တို့သည် မိမိတို့လက်ဝယ်ရှိနေသေးသော ဥစ္စာပစ္စည်းများကို ထိုအရှင်မြတ် ညွှန်ကြားတော်မူရာတွင် ရိုးသားစွာ ရက်ရောစွာ သုံးစွဲလှူဒါန်းကြရပေမည်။ ထိုမှတစ်ပါးတုံ ယင်းသို့ သုံးစွဲလှူဒါန်းခြင်းအားဖြင့် ကျွန်ုပ်တို့သည် မြင့်မြတ်လှသော ကုသိုလ်အကျိုးများကိုလည်း ချီးမြှင့်တော်မူခြင်းခံကြရ ဦးမည်ဖြစ်ရာ ကျွန်ုပ်တို့၌ ယင်းသို့ မလှူဒါန်းရန်အကြောင်းပင် မရှိတော့ပေ။ အဆောတလျင် လှူဒါန်းကြရမည်သာတည်း။

(၁) အထက်တွင် အလ္လာဟ်အရှင်မြတ်အား အီမာန် သက်ဝင်ယုံကြည်၍ ထိုအရှင်မြတ်၏ လမ်းတော်၌ သုံးစွဲလှူဒါန်းကြသော မုအမ်မင်န်များ အကြောင်းပါရှိ၏။ ဤ အာယတ်တော်တွင် အီမာန် သက်ဝင်ယုံကြည်ခြင်း မရှိသေးသောသူများအား ရည်ညွှန်း မိန့်ကြားထားတော်မူသည်မှာ အလ္လာဟ်အရှင်မြတ်အား အသင်တို့ ►►

هُوَ الَّذِىۡ يُنَزِّلُ عَلٰى عَبۡدِهٖۤ
اٰيٰتٍۭ بَيِّنٰتٍ لِّيُخۡرِجَكُمۡ مِّنَ
الظُّلُمٰتِ اِلَى النُّوۡرِ‌ؕ وَاِنَّ
اللّٰهَ بِكُمۡ لَرَءُوۡفٌ رَّحِيۡمٌ ۝٩

၉။ ထိုအရှင်မြတ်သည် အကြင်အရှင်မြတ်ပင်။ ထိုအရှင်မြတ်သည် အသင်တို့အား အမှောင်ထုမှအလင်းသို့ ထွက်စေအံ့သောငှာ မိမိကျွန်တော်(တမန်တော်မြတ်မုဟမ္မဒ်)၏အပေါ်၌ ထင်ရှားစွာသော အာယတ်တော်များကို ချပေးတော်မူ၏။ စင်စစ်မှာကား ဧကန်မလွဲ အလ္လာဟ်အရှင်မြတ်သည် အသင်တို့အပေါ်ဝယ် အလွန်တရာ နူးညံ့သိမ်မွေ့တော်မူသော၊ အလွန်တရာ ကြင်နာသနားတော်မူသောအရှင်မြတ် ဖြစ်တော်မူ၏။

وَمَا لَكُمۡ اَلَّا تُنۡفِقُوۡا فِىۡ سَبِيۡلِ
اللّٰهِ وَلِلّٰهِ مِيۡرَاثُ السَّمٰوٰتِ
وَالۡاَرۡضِ‌ؕ لَا يَسۡتَوِىۡ مِنۡكُمۡ مَّنۡ
اَنۡفَقَ مِنۡ قَبۡلِ الۡفَتۡحِ وَقٰتَلَ‌ؕ
اُولٰٓـئِكَ اَعۡظَمُ دَرَجَةً مِّنَ
الَّذِيۡنَ اَنۡفَقُوۡا مِنۡۢ بَعۡدُ

၁၀။ ထိုမှတစ်ပါး အသင်တို့သည် အလ္လာဟ်အရှင်မြတ်၏ လမ်းတော်၌ သုံးစွဲလှူဒါန်းခြင်း မပြုကြရန် အသင်တို့၌ မည်သည့်အကြောင်း ရှိချေသနည်း။ စင်စစ်သော်ကား မိုးကောင်းကင်များ၌ ရှိကုန်သော ပစ္စည်းဥစ္စာတို့သည် လည်းကောင်း၊ ပထဝီမြေဝယ် ရှိကုန်သော ပစ္စည်းဥစ္စာတို့သည် လည်းကောင်း၊ အလ္လာဟ်အရှင်မြတ်နှင့်သာ သက်ဆိုင်ပေသည်။ အသင်တို့အနက် (မက္ကာမြို့တော်ကို) မအောင်မြင်မီ သုံးစွဲ လှူဒါန်းခဲ့ကြသော၊ ပြိုင်ဆိုင်တိုက်ခိုက်ခဲ့ကြသောသူတို့သည် (မက္ကာမြို့တော်ကို အောင်မြင်ပြီးနောက်တွင် သုံးစွဲလှူဒါန်းခြင်း၊ ပြိုင်ဆိုင်တိုက်ခိုက်ခြင်း ပြုခဲ့ကြသောသူတို့နှင့်) တူကြသည်မဟုတ်ပေ။

---

➤➤ အဘယ်ကြောင့် မယုံကြည်ကြသနည်း။ ယင်းသို့ မယုံကြည်ရန် အသင်တို့၌ အဟန့်အတား တစ်စုံတစ်ရာ ရှိသလော။ အလ္လာဟ်အရှင်မြတ်အား မယုံကြည်ရန် အဟန့်အတား တစ်စုံတစ်ရာ မရှိသည်သာမက၊ ထိုအရှင်မြတ်အား ယုံကြည်ရန်သာလျှင် အကြောင်းများအလုံအလောက် ရှိနေပေသည်။ ဥပမာ (၁) တမန်တော်မြတ်မုဟမ္မဒ် (ဆွာလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)ကိုယ်တော်တိုင် အသင်တို့အား ဖိတ်ခေါ်တော်မူလျက် ရှိသည်။ (၂) ထို့ပြင်တစ်ဝ အလ္လာဟ်အရှင်မြတ် ကိုယ်တိုင်ပင်လျှင်၊ ဝိညာဉ်လောကတွင် အသင်တို့ထံမှ ပဋိညာဉ်ဝန်ခံချက်ကို ယူထားတော် မူခဲ့ပေသည်။ ယင်းသည့် ပဋိညာဉ် ဝန်ခံချက်ကို ပွင့်လေသမျှသော တမန်တော်များနှင့်တကွ တမန်တော်မြတ် ကိုယ်တော်တိုင်ကပါ အသီးသီးပြန်လည် သတိပေးခဲ့ကြပြီးလည်း ဖြစ်သည်။ သို့ဖြစ်ရာ အကယ်၍ အသင်တို့သည် အီမာန် သက်ဝင်ယုံကြည်လိုပါက သက်ဝင်ယုံကြည်နိုင်ရန် အကြောင်းများ အလုံအလောက် ရှိနေချေပြီ။ ကြည့် - ထာနဝီ။

وَقَاتَلُوا وَكُلًّا وَّعَدَ اللّٰهُ الْحُسْنٰى وَاللّٰهُ بِمَا تَعْمَلُوْنَ خَبِيْرٌ ⑩

ထို(မအောင်မြင်မီ လှူဒါန်း တိုက်ခိုက်ခဲ့ကြသောသူတို့မှာကား နောက်ပိုင်းတွင် သုံးစွဲလှူဒါန်းခြင်း၊ ပြိုင်ဆိုင် တိုက်ခိုက်ခြင်း ပြုခဲ့ကြသောသူတို့ထက် *ဂုဏ်ရည်အဆင့်အတန်းအားဖြင့် ထူးကဲမြင့်မြတ်လှကြကုန်၏၊* ^၁ စင်စစ်သော်ကား အလ္လာဟ်အရှင်မြတ်သည် အားလုံးကိုပင် ကောင်းကျိုးပေးတော်မူရန် ကတိပေးတော်မူခဲ့၏။ ထိုမှတစ်ပါး အလ္လာဟ်အရှင်မြတ်သည် အသင်တို့ ကျင့်မူသမျှတို့ကို စုံလင်စွာသိတော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူသည်။

---

(၁) အလ္လာဟ်အရှင်မြတ်၏လမ်းတော်၌ လှူဒါန်းခြင်းသည် ကောင်း၏။ ထိုအရှင်မြတ်၏လမ်းတော်၌ ရန်သူများနှင့် ပြိုင်ဆိုင်တိုက်ခိုက်ခြင်းသည် ကောင်း၏။ နှစ်ဘဝလုံးတွင် အလ္လာဟ်အရှင်မြတ်ထံတော်မှ ကုသိုလ်အကျိုးများကို ချီးမြှင့်တော်မူခြင်း ခံရမည်သာဖြစ်၏။

သို့ရာတွင် ဤနေရာ၌ သတိပြုအပ်သည့် အချက်တစ်ရပ်မှာ အလ္လာဟ်အရှင်မြတ်၏လမ်းတော်၌ လှူဒါန်းခြင်း၊ စွန့်စားခြင်းများသည် တစ်ခါတစ်ရံ အမည်ပညတ်အားဖြင့် အချင်းချင်းတူငြားသော်လည်း အချိန်ကာလ အခြေအနေ ပတ်ဝန်းကျင် ကွဲပြားသည့်အပေါ်တွင် ကုသိုလ်အကျိုးများမှာ ကွဲပြားခြားနားသွားတတ်ပေသည်။ ဥပမာ–မက္ကာမြို့တော် မအောင်နိုင်မီ အလျင်က အလ္လာဟ်အရှင်မြတ်၏လမ်းတော်၌ လှူဒါန်းသူများနှင့် မက္ကာမြို့တော် အောင်နိုင်ပြီးနောက်ပိုင်းတွင် လှူဒါန်းသူများသည် အဘယ်မှာလျှင် အကျိုးချင်းတူနိုင်ကြအံ့နည်း။ ထိုနည်းအတူ မက္ကာမြို့တော် မအောင်နိုင်မီအလျင်က အလ္လာဟ်အရှင်မြတ်၏လမ်းတော်၌ ဂျိဟာဒ် ပြုလုပ်သူများနှင့် မက္ကာမြို့တော်အောင်နိုင်ပြီး နောက်ပိုင်းကာလတွင် ဂျိဟာဒ် ပြုလုပ်သူများသည် အဘယ်မှာလျှင် အကျိုးချင်းတူနိုင်ကြအံ့နည်း။

မက္ကာမြို့တော် မအောင်နိုင်မီအလျင်က လှူဒါန်းခဲ့ကြသော ဂျိဟာဒ်ပြုခဲ့ကြသော ပုဂ္ဂိုလ်များသည် မက္ကာမြို့တော်အောင်နိုင်ပြီး နောက်ပိုင်းကာလမှ လှူဒါန်းခဲ့ကြသော ဂျိဟာဒ် ပြုလုပ် ကြသောပုဂ္ဂိုလ်များထက် ဂုဏ်ရည်အဆင့်အတန်း အလွန်မြင့်မားခဲ့ကြပေသည်။ အကြောင်းသော် မက္ကာမြို့တော် မအောင်နိုင်မီ အလျင်က အစ္စလာမ်ကို လက်ခံသူများမှာ အလွန်တရာမျှ နည်းခဲ့၏။ အစ္စလာမ်အတွက် အသက်ပေး၍ ဂျိဟာဒ်ပြုလုပ်သူများမှာလည်း အလွန်နည်းခဲ့၏။ ရန်သူများကား များပြားခဲ့ကြ၏။ ၎င်းတို့၏ အင်အားမှာလည်း ကြီးမားခဲ့၏။ ဂျိဟာဒ်ပြုလုပ်ခြင်းဖြင့် စစ်မြေပြင်မှ လက်ရပစ္စည်း သုံ့ပန်းစသည့် လောကီအကျိုးအမြတ်ရရန်လည်း မျှော်လင့်ချက်မရှိခဲ့ပေ။ ထိုသို့သောအချိန်အခါမျိုးတွင် ထိုသို့သောပတ်ဝန်းကျင်၌ ဥစ္စာပစ္စည်းလှူဒါန်းခြင်း သက်စွန့်ကြိုးပမ်းခုခံတိုက်ခိုက်ခြင်းသည် အထူးလို၏။ အထူးအရေးကြီး၏။ ထိုသို့သောအချိန်ကာလ အခြေအနေမျိုးတွင် အလ္လာဟ်အရှင်မြတ်အား ယုံကြည်မြတ်နိုး၍ ထိုအရှင်မြတ်၏လမ်းတော်တွင် ဥစ္စာပစ္စည်းနှင့်တကွ အသက်စည်းစိမ်ကိုပါ စွန့်လှူခြင်းမှာ လူသာမန်တို့၏ အလုပ်မဟုတ်၊ သာသနာ့သူရဲကောင်းတို့၏ အလုပ်သာလျှင် ဖြစ်ချေသည်။ ကြည့်–ထာနဝီ၊ အွတ်ဆ်မာနီ။

مَنْ ذَا الَّذِيْ يُقْرِضُ اللهَ قَرْضًا حَسَنًا فَيُضٰعِفَهٗ لَهٗ وَلَهٗٓ اَجْرٌ كَرِيْمٌ ⑪

၁၁။ အလ္လာဟ်အရှင်မြတ်အား ကောင်းမြတ်သော (စေတနာနှင့်) ကြွေးမြီချေးငှားအံ့သောသူသည် မည်သူရှိသနည်း။ သို့ချေးငှားခဲ့သည်ရှိသော် ထိုအရှင်မြတ်သည် ယင်းကြွေးမြီကို ထိုသူ၏အဖို့ ဆတက်တိုးပွားစေတော်မူသည့်ပြင် ထိုသူ၏အဖို့ မြင့်မြတ်လှစွာသော အကျိုးသည်လည်း ရှိချေအံ့သတည်း။ [၁]

يَوْمَ تَرَى الْمُؤْمِنِيْنَ وَالْمُؤْمِنٰتِ يَسْعٰى نُوْرُهُمْ بَيْنَ اَيْدِيْهِمْ وَبِاَيْمَانِهِمْ بُشْرٰىكُمُ الْيَوْمَ جَنّٰتٌ تَجْرِيْ مِنْ تَحْتِهَا الْاَنْهٰرُ خٰلِدِيْنَ فِيْهَا ۗ ذٰلِكَ هُوَ الْفَوْزُ الْعَظِيْمُ ۚ ⑫

၁၂။ (အို-နဗီတမန်တော်၊) အကြင်နေ့တွင် အသင်သည် မုအ်မင်န်သက်ဝင်ယုံကြည်သူ ယောကျ်ားမိန်းမတို့အား တွေ့မြင်ရပေမည်။ ထိုသူတို့၏ ရောင်ခြည်သည် *ထိုသူတို့၏ရှေ့၌လည်းကောင်း၊ ထိုသူတို့၏လက်ယာဘက်များ၌ လည်းကောင်း၊ ပြေးလျက်ရှိပေမည်။* [၂] (၎င်းတို့သည် ဤသို့ပြောကြားခြင်း ခံကြရပေမည်။) ယနေ့ အသင်တို့အဖို့ သတင်းကောင်းပင်၊ (အသင်တို့အဖို့) အကြင်ဥယျာဉ်များ ရှိပေသည်။ ယင်းဥယျာဉ်များ၏အောက်မှချောင်းများသည် စီးတွေလျက်ရှိကြပေသည်။ ယင်းဥယျာဉ်များဝယ် (အသင်တို့သည်) အမြဲထာဝစဉ် နေထိုင်ကြရပေမည်။ ထိုသည်ပင်လျှင် ကြီးကျယ်လှသော အောင်မြင်မှုပင်။

---

(၁) ဤအာယတ်တော်တွင် အလ္လာဟ်အရှင်မြတ်အား ကြွေးမြီး ချေးငှားခြင်းဟူသည် ထိုအရှင်မြတ်၏ လမ်းတော်၌ သုံးစွဲလှူဒါန်းခြင်းကို တင်စားသုံးနှုန်းထားတော်မူခြင်းဖြစ်သည်။ ဤသည့်အသုံးအနှုန်းကို ထောက်ရှုခြင်းအားဖြင့် အကြွေးသည် မြီစားက မြီရှင်အား ပြန်လည်ပေးဆပ်ရသည့် အလား အလ္လာဟ်အရှင်မြတ်သည် မိမိ၏လမ်းတော်၌ သုံးစွဲလှူဒါန်းသူများအား မုချ ကုသိုလ်အကျိုးချီးမြှင့်တော်မူမည့် အကြောင်းကိုလည်း ကောင်းစွာသိရှိနိုင်ပေသည်။

အလ္လာဟ်အရှင်မြတ်သည် မိမိ၏လမ်းတော်၌ ကောင်းမြတ်သောစေတနာဖြင့် သုံးစွဲလှူဒါန်းသူများအား ကုသိုလ်အကျိုးကို အဆပေါင်း မြောက်မြားစွာ များပြားစေတော်မူမည်။ ထို့ပြင်တစ်ဝ မြင့်မြတ်သော ကုသိုလ်အကျိုးကိုလည်း ချီးမြှင့်တော်မူဦးပေမည်။ အလ္လာဟ်အရှင်မြတ်ဘက်တော်မှ ပြန်လည်ချီးမြှင့်တော်မူမည့် ကုသိုလ်အကျိုးသည် ထိုအရှင်မြတ်၏လမ်းတော်၌ ကျွန်ုပ်တို့ သုံးစွဲလှူဒါန်းကြသော အလှူဒါနထက် အရေအတွက်အားဖြင့်လည်းကောင်း၊ အရည်အသွေးအားဖြင့်လည်းကောင်း၊ အဘက်ဘက်မှ အတိုင်းမသိ ကောင်းမြတ်လှပေမည်။ အတိုင်း မသိ များပြားလှပေမည်။ သို့ဖြစ်ရာ ကျွန်ုပ်တို့သည် အလ္လာဟ်အရှင်မြတ်၏ လမ်းတော်၌ ကိုယ်စွမ်းရှိသမျှ ဉာဏ်စွမ်းရှိသမျှ သုံးစွဲလှူဒါန်းကြရန်သာ ရှိပေတော့သတည်း။ 

၁၃။ အကြင်နေ့တွင် 'မုနာဖစ်က်' အယောင်ဆောင် မုစ်လင်မ်ယောကျ်ား မိန်းမတို့သည် 'မုအ်မင်န်' သက်ဝင်ယုံကြည်သူတို့အား (ဤသို့) ပြောဆိုကြပေမည်။ (အချင်းတို့)၊ အသင်တို့၏အလင်းရောင်မှ (အနည်းငယ်မျှ) ရယူနိုင်ကြရန် အသင်တို့သည် ကျွန်ုပ်တို့အား လှည့်၍ ကြည့်ကြလေကုန်၊ စောင့်ဆိုင်းကြလေကုန်။ (ထိုအခါ ၎င်းတို့သည် ဤသို့)ပြောဆို ပြန်ကြားခြင်းကို ခံကြရပေမည်။ *အသင်တို့သည် နောက်သို့ပြန်သွားပြီးလျှင် အလင်းရောင်ကို ရှာဖွေကြလေကုန်။* [၁]

يَوْمَ يَقُولُ الْمُنٰفِقُوْنَ وَالْمُنٰفِقٰتُ لِلَّذِيْنَ اٰمَنُوا انْظُرُوْنَا نَقْتَبِسْ مِنْ نُّوْرِكُمْ قِيْلَ ارْجِعُوْا وَرَآءَكُمْ فَالْتَمِسُوْا نُوْرًا فَضُرِبَ بَيْنَهُمْ بِسُوْرٍ لَّهٗ بَابٌ بَاطِنُهٗ فِيْهِ الرَّحْمَةُ

---

➤➤ ဤသည့်သဘောကို ကုရ်အာန်(၂း၂၄၅။၅း၁၂။၅၇း၁၁။၅၇း၁၈။၆၄း၁၇။၇၃း၂၀)တွင် မိန့်ဆိုထားတော်မူသည်။

(၂) ဤအာယတ်တော်တွင် ကိယာမတ်နေ့၌ 'မဟ်ရှရ်' ကွင်းပြင်ကြီး၏ ရှုမျှော်ခင်းတစ်ရပ်ကို မိန့်ဆိုထားတော်မူသည်။ အီမာန် သက်ဝင်ယုံကြည်သော မုအ်မင်န် အမျိုးသားအမျိုးသမီးများသည် 'ဆိရာတ်' တံတားကို ဖြတ်ကျော်ကြသည့် အချိန်တွင် ၎င်းတို့နှင့်အတူ ၎င်းတို့၏ (အီမာန်) ယုံကြည်မှု၊ (အမလ်) အကျင့်သီလနှင့်အမျှ လင်းရောင်ခြည် ပါရှိပေမည်။

(၁) ကိယာမတ်နေ့တွင် မုအ်အင်န်များသည် မိမိတို့၏ (အီမာန်) ယုံကြည်မှု၊ (အမလ်) အကျင့်သီလများ၏ ကျေးဇူးဖြင့် 'ဆိရာတ်'တံတားကို လွယ်ကူစွာ ဖြတ်ကျော်သွားကြသောအခါ မုနာဖစ်က်များသည် (ဝါ) အခြေအနေအရ မလွဲမရှောင်သာ ဟန်ဆောင်ကာ မိမိတို့ကိုယ်ကို မိမိတို့ မွတ်စ်လင်မ်ပါဟု ထုတ်ဖော်ပြောဆိုနေခဲ့ကြသော ကာဖိရ်များသည် အမှောင်ထုအတွင်း၌ ကျန်ရစ်နေခဲ့ကြပေမည်။

ကိယာမတ်နေ့တွင် မုနာဖစ်က်များ၌ အစကတည်းကပင် လင်းရောင်ခြည် လုံးဝမရှိဘဲလည်း ဖြစ်နိုင်ပေသည်။ သို့တည်းမဟုတ် မုနာဖစ်က်များသည် လူ့လောက၌ရှိခဲ့ကြစဉ်က ပြင်ပကိစ္စများတွင် မွတ်စ်လင်မ်များနှင့်အတူ ဟန်ဆောင်ကာ ပါဝင်နေခဲ့ကြသည့်အားလျော်စွာ၊ ကိယာမတ်နေ့တွင်လည်း ယင်းမုနာဖစ်က်များ၌ အစပထမတွင် သာမန်ဟန်ဆောင် လင်းရောက်ခြည် ရှိကောင်းရှိပေမည်။ သို့ရာတွင် ၎င်းတို့၌ မှန်ကန်သော (အီမာန်)ယုံကြည်မှု မရှိခဲ့သည့်အတွက်၊ ၎င်းတို့ရရှိကြမည့် ဟန်ဆောင် လင်းရောင်ခြည်သည်လည်း အမှန်တကယ် လိုအပ်သည့်အချိန်တွင်မှ ပျောက်ခြင်းမလှ ပျောက်ကွယ်သွားပေမည်။ အယောင်ဆောင် မွတ်စ်လင်မ်များအား အယောင်ဆောင်မှု၏ ပြစ်ဒဏ်ပေးသည့်အနေဖြင့် အစပထမတွင် ၎င်းတို့၌ သာမန်လင်းရောက်ခြည်ရှိစေပြီး၊ ထို့နောက်တွင် သော် ရုတ်တရက် လင်းရောင်ခြည် လုံးဝကွယ်ပျောက်စေခြင်းသည် ပို၍ သဘာဝကျလှပေသည်။

ကြည့် - အာဂျီဒီ။

ယင်းသို့ မုနာဖစ်က်များ လင်းရောင်ခြည် ပျောက်ခြင်းမလှ ပျောက်၍ အမှောင်ထုတွင် ကျန်ရစ်ခဲ့ကြရသောအခါ၊ မုနာဖစ်က်များက မုအ်မင်န်တို့အား အချင်းတို့၊ ကျွန်ုပ်တို့အား ကြည့်ကြပါကုန်။ စောင့်ဆိုင်းကြပါကုန်။ ကျွန်ုပ်တို့ အသင်တို့၏လင်းရောင်ခြည်မှ အနည်းငယ်သော လင်းရောင်ခြည် ယူကြပါရစေဟု ➤➤

وَظَاهِرُهٗ مِنۡ قِبَلِهِ الۡعَذَابُ ﴿۱۳﴾

ထိုအချိန်၌ပင် ၎င်းတို့၏အကြား၌ တံတိုင်းတစ်ခု စိုက်ထူလိုက်ပေမည်။ ① ယင်းတံတိုင်းတွင် တံခါးတစ်ခု ရှိပေမည်။ ယင်းတံခါး၏ အတွင်းဘက်၌ ကရုဏာသည်ရှိ၍၊ ၎င်း၏အပြင်ဘက်၌မူကား ပြစ်ဒဏ်သည်ရှိပေမည်။

يُنَادُوۡنَهُمۡ اَلَمۡ نَكُنۡ مَّعَكُمۡ‌ؕ قَالُوۡا بَلٰى وَلٰـكِنَّكُمۡ فَتَنۡتُمۡ اَنۡفُسَكُمۡ وَ تَرَبَّصۡتُمۡ وَارۡتَبۡتُمۡ وَغَرَّتۡكُمُ الۡاَمَانِىُّ حَتّٰى جَآءَ اَمۡرُ اللّٰهِ وَ غَرَّكُمۡ بِاللّٰهِ الۡغَرُوۡرُ ﴿۱۴﴾

၁၄။ ထို 'မုနာဖစ်က်' အယောင်ဆောင် မုစ်လင်မ်တို့သည် ထိုမုအ်မင်န် သက်ဝင်ယုံကြည်သူတို့အား ကျွန်ုပ်တို့သည် (လောကီဘဝတွင်) အသင်တို့နှင့်အတူ ရှိခဲ့ကြသည် မဟုတ်လောဟု ဟစ်အော် ပြောဆိုကြပေမည်။ (ထိုအခါ) ထိုမုအ်မင်န် သက်ဝင် ယုံကြည်သူတို့က (ဤသို့) ဖြေကြားကြပေမည်။ အဘယ်ကြောင့် မဟုတ်ပါသနည်း။ (အမှန်ပင်) အတူရှိခဲ့ကြပေသည်။ သို့ရာတွင် အသင်တို့သည် မိမိတို့ကိုယ်ကို ဖြားယောင်းခဲ့ကြပေသည်။ ၎င်းပြင် အသင်တို့သည် (အစ္စလာမ် သာသနာတော် ပျက်စီးရန်) စောင့်ဆိုင်း၍ နေခဲ့ကြပေသည်။ ထို့ပြင် အသင်တို့သည် အစ္စလာမ်သာသနာတော်နှင့်စပ်လျဉ်း၍ ဒွိဟသံသယ ဖြစ်နေခဲ့ကြပေသည်။ အချည်းနှီးသော အာသာဆန္ဒများသည်လည်း အသင်တို့အား သွေးဆောင် ဖြားယောင်းခဲ့ပေသည်။

---

➤➤ ပြောကြားပေမည်။ ထိုအခါ သက်ဆိုင်ရာ ကောင်းကင်တမန်များက သို့မဟုတ် အဆိုပါ မုအ်မင်န်များက အသင်တို့ နောက်သို့ပြန်သွားပြီးလျှင် လင်းရောင်ခြည်ကို ရှာဖွေကြကုန်ဟု ပြန်လည်ဖြေကြားကြပေမည်။ ဆိုလိုသည်ကား - ဤသည့် လင်းရောင်ခြည်သည် လူ့လောကတွင် ကျင့်မှု ဆည်းပူးခဲ့ကြသော အကျင့်သီလ၏ အကျိုးသာဖြစ်သည်။ အကျင့်သီလ ဆည်းပူးရာဌာနကား ဤဌာနမဟုတ်။ အသင်တို့ထားခဲ့သော လူ့လောကဖြစ်သည်။ ဤဌာနကား ကျိုးပြစ်ခံစံရာ ဌာနသာဖြစ်သည်ဟူ၏။ ကြည့်-မာရိဒီ။

① မုနာဖစ်က်များသည် မုအ်မင်န်များထံ ဝင်ရောက်ရန် ဝေးစွ မုအ်မင်န်များထံမှ လင်းရောင်ခြည်ရရန်ဝေးစွ၊ ၎င်းတို့နှင့် မုအ်မင်န်တို့၏ စပ်ကြားတွင် တံတိုင်းကြီးတစ်ခု စိုက်ထူကာ မုအ်မင်န်များနှင့် မုနာဖစ်က်များကို အခွဲကြီးခွဲပစ်လိုက်ပေမည်။ မုနာဖစ်က်များသည် ဤမှာဘက်တွင် လင်းရောင်ခြည်ပျောက်ကာ အမှောင်ထု အတွင်း၌ပင် ကျန်ရှိနေခဲ့ကြပေမည်။ ဤကား အယောင်ဆောင်မှု၏ အကျိုးပင်။

နောက်ဆုံးတွင် ('မရဏ'သေခြင်းတရားတည်းဟူသော) အလ္လာဟ်အရှင်မြတ်၏အမိန့်တော်သည် ရောက်ရှိ၍ လာခဲ့ပေသည်။ ထိုမှတစ်ပါး လွန်စွာဖြားယောင်းသူ(ဖြစ်သော 'ရှိုင်တွာန်'မိစ္ဆာကောင်)သည် အသင်တို့အား အလ္လာဟ်အရှင်မြတ်နှင့်ပတ်သက်၍ သွေးဆောင် ဖြားယောင်းခဲ့ပေသည်။ [၁]

فَالْيَوْمَ لَا يُؤْخَذُ مِنْكُمْ فِدْيَةٌ وَّلَا مِنَ الَّذِيْنَ كَفَرُوْا ۗ مَأْوٰىكُمُ النَّارُ ۗ هِيَ مَوْلٰىكُمْ ۗ وَبِئْسَ الْمَصِيْرُ ⑮

၁၅။ သို့ဖြစ်ပေရာ ယနေ့သော်ကား အသင်တို့ထံမှလည်း မည်သည့်လျော်ကြေးမျှ လက်ခံယူမည်မဟုတ်ပေ၊ 'ကာဖိရ်' သွေဖည်ငြင်းပယ် သူတို့ထံမှလည်း လက်ခံမည် မဟုတ်ပေ၊ အသင်တို့ (အားလုံးတို့)၏ နေရာထိုင်ခင်းများမှာ (ငရဲ)မီးပင်ဖြစ်၏။ ယင်း(ငရဲ)မီးသည်ပင်လျှင် အသင်တို့၏အဖော်ဖြစ်၏။ စင်စစ်မှာမူကား ယင်းပြန်လည်ရာစခန်းမှာ ဆိုးယုတ်လှပေစွတကား။

---

(၁) မုနာဖစ်က်များသည် မုအ်မင်န်များထံမှ လင်းရောင်ခြည် တစ်စုံတစ်ရာ မရရှိကြသည့်အခါ၊ မုနာဖစ်က်များက မုအ်မင်န်တို့အား 'ကျွန်ုပ်တို့သည် လူ့လောကတွင် အသင်တို့နှင့် အတူပင် ရှိနေခဲ့ကြသည် မဟုတ်ပါလော' ဟု ဟစ်အော် ပြောဆိုကြပေမည်။ ထိုအခါ မုအ်မင်များက အသင်တို့သည် လူ့လောကတွင် ကျွန်ုပ်တို့နှင့်အတူ ရှိနေခဲ့ကြသည်မှန်၏။

သို့ရာတွင် အသင်တို့သည် မိမိတို့ကိုယ်ကို ဖြားယောင်းခဲ့ကြသည်။ အစ္စလာမ်နှင့် အစ္စလာမ်၏ တမန်တော်၏ ရန်သူများဖြစ်ခဲ့ကြသည်။ အစ္စလာမ်၏ ပျက်စီးမှုကို စောင့်မျှော်နေခဲ့ကြသည်။ အစ္စလာမ်နှင့် စပ်လျဉ်း၍ ဒွိဟ သံသယ အမျိုးမျိုးဖြစ် ခဲ့ကြသည်။ စိတ်အလိုဆန္ဒများတွင် နစ်မွန်းနေခဲ့ကြသည်။

နောက်ဆုံးတွင် အလ္လာဟ်အရှင်မြတ်၏အမိန့်တော် (ဝါ) သေခြင်းတရားသည် အသင်တို့၌ ဆိုက်ရောက်လာခဲ့သည်။ အသက်သေဆုံးသည်အထိ ဝန်ချတောင်းပန်ခြင်းပင် မပြုခဲ့ကြပေ။ အမှန်မှာ ရှိုင်တွာန်သည် အလ္လာဟ်အရှင်မြတ်နှင့် ပတ်သက်၍ အသင်တို့အား ကောင်းစွာ ဖြားယောင်းခဲ့ပေသည်ဟု ပြန်လည်ဖြေကြားကြပေမည်။

အယောင်ဆောင်မှုသည် အဘယ်မှာလျှင် အကျိုးပေးနိုင်အံ့နည်း။ လွတ်မြောက်ရန်အတွက် အဘယ်မှာလျှင် ခိုင်လုံသောအကြောင်း ဖြစ်နိုင်အံ့နည်း။

ٱلَمْ يَأْنِ لِلَّذِينَ ءَامَنُوٓا۟ أَن تَخْشَعَ قُلُوبُهُمْ لِذِكْرِ ٱللَّهِ وَمَا نَزَلَ مِنَ ٱلْحَقِّ وَلَا يَكُونُوا۟ كَٱلَّذِينَ أُوتُوا۟ ٱلْكِتَٰبَ مِن قَبْلُ فَطَالَ عَلَيْهِمُ ٱلْأَمَدُ فَقَسَتْ قُلُوبُهُمْ ۖ وَكَثِيرٌ مِّنْهُمْ فَٰسِقُونَ ﴿١٦﴾

၁၆။ မုအ်မင်န် သက်ဝင်ယုံကြည်သူတို့အဖို့ အလ္လာဟ်အရှင်မြတ်၏ဆုံးမဩဝါဒ သတိပေး နှိုးဆော်ချက်၏ ရှေ့ဝယ်လည်းကောင်း၊ ကျရောက်လာပြီး ဖြစ်သော အမှန်တရား၏ရှေ့ဝယ်လည်းကောင်း၊ စိတ်နှလုံးများ ကိုင်းညွတ်ရန် အချိန်တန်ပြီ မဟုတ်လော။ ထိုမှတစ်ပါး ၎င်းတို့သည် အကြင်သူတို့ကဲ့သို့ မဖြစ်ကြရန်။ ထိုသူတို့သည်ကျမ်းဂန်ကို ချီးမြှင့် ပေးသနားတော်မူခြင်း ခံခဲ့ရလေ၏။ သို့ရာတွင် ၎င်းတို့အပေါ်ဝယ် ကာလ ပရိစ္ဆေဒသည် အစွန့်ရှည်ခဲ့သောအခါ၊ ၎င်းတို့၏ စိတ်နှလုံးမှာ ခက်ထန်မာမြင်း၍ လာခဲ့လေ၏။ ထိုမှတစ်ပါး ၎င်းတို့တွင် မြောက်မြားစွာတို့မှာ သွေဖည်သူများပင် ဖြစ်ကြကုန်၏။ [၁]

ٱعْلَمُوٓا۟ أَنَّ ٱللَّهَ يُحْىِ ٱلْأَرْضَ بَعْدَ مَوْتِهَا ۚ قَدْ بَيَّنَّا لَكُمُ ٱلْءَايَٰتِ لَعَلَّكُمْ تَعْقِلُونَ ﴿١٧﴾

၁၇။ ဧကန်မလွဲ အလ္လာဟ်အရှင်မြတ်သည် ပထဝီ မြေကို သေလွန် သွေ့ခြောက်ပြီးနောက် ပြန်လည်၍ ရှင်စေတော်မူကြောင်း အသင်တို့သည် ကောင်းစွာ သိရှိထားကြလေကုန်။ ဧကန်စင်စစ် ငါအရှင်မြတ်သည် အသင်တို့ သိနားလည်ကြအံ့သောငှာ သက်သေ လက္ခဏာတော်များကို ရှင်းလင်းဖော်ပြတော်မူခဲ့ပြီး ဖြစ်ပေသတည်း။

---

(၁) **အချိန်တန်ပြီ၊**

အထက်တွင် မုအ်နာဖစ်က်များ ဂျဟန္နမ် ငရဲသို့ လားကြရသည့် အကြောင်း မိန့်ဆိုထားတော်မူ၏။ ရှေ့တွင် အကျင့်သီလ၌ လျော့ရဲဖြစ်နေကြသော မုအ်မင်န်တို့အား သတိပေးထားတော်မူသည်မှာ မုအ်မင်န်များအဖို့ အလ္လာဟ်အရှင်မြတ်၏ အဆုံးအမဩဝါဒနှင့် ကျရောက်လာသော အမှန်တရားရှေ့ဝယ်တွင် ၎င်းတို့၏ စိတ်နှလုံးများ နူးညွတ်ရန် အချိန်တန်ပြီ မဟုတ်ပါလော။

မုအ်မင်များသည် အတိတ်ခေတ်ကျမ်းဂန်များ ရရှိခဲ့ကြသော ယဟူဒီ၊ နဆွ်ရာနီများကဲ့သို့ မဖြစ်ကြရာ၊ သို့ ကျမ်းဂန်များ ရရှိခဲ့ကြပါလျက်၊ နှစ်ပရိစ္ဆေဒ အတန်ကြာလာခဲ့သောအခါ၊ ၎င်းတို့၏ စိတ်နှလုံးများသည် ခက်ထန်မာမြင်းခဲယဉ်းလာခဲ့ပေသည်။ ၎င်းတို့အနက် မြောက်မြားစွာသောသူများ သွေဖည်လာခဲ့ကြပေသည်။ ယင်းသို့ကား မဖြစ်ကြရာ၊ ဆိုလိုသည်ကား – မုအ်မင်န်များ အဖို့ စိတ်နှလုံး နူးညွတ်ရန် အချိန်တန်ပြီ၊ မိမိတို့၏အမှားများကို ပြုပြင်ဖို့ အချိန်တန်ပြီ။

إِنَّ ٱلْمُصَّدِّقِينَ وَٱلْمُصَّدِّقَـٰتِ وَأَقْرَضُوا۟ ٱللَّهَ قَرْضًا حَسَنًا يُضَـٰعَفُ لَهُمْ وَلَهُمْ أَجْرٌ كَرِيمٌ ﴿١٨﴾

၁၈။ ကေန်စင်စစ် လှူဒါန်းကြကုန်သော ယောကျ်ားမိန်းမတို့သည် အလ္လာဟ်အရှင်မြတ်အား ကောင်းမြတ်သော (စေတနာနှင့်) ကြွေးမြီ ချေးငှားခဲ့ကြကုန်၏။ ယင်းအလှူဒါနသည် ၎င်းတို့အဖို့ ဆထက်တိုးစေခြင်း ခံရသည့်ပြင် ၎င်းတို့အဖို့ မြင့်မြတ်လှစွာသော အကျိုးသည်လည်း ရှိချိမ့်မည်။

وَٱلَّذِينَ ءَامَنُوا۟ بِٱللَّهِ وَرُسُلِهِۦٓ أُو۟لَـٰٓئِكَ هُمُ ٱلصِّدِّيقُونَ ۖ وَٱلشُّهَدَآءُ عِندَ رَبِّهِمْ لَهُمْ أَجْرُهُمْ وَنُورُهُمْ ۖ وَٱلَّذِينَ كَفَرُوا۟ وَكَذَّبُوا۟ بِـَٔايَـٰتِنَآ أُو۟لَـٰٓئِكَ أَصْحَـٰبُ ٱلْجَحِيمِ ﴿١٩﴾

၁၉။ ထိုမှတစ်ပါး အလ္လာဟ်အရှင်မြတ်အား လည်းကောင်း၊ ထိုအရှင်မြတ်၏ ရစူလ်တမန်တော်များအားလည်းကောင်း၊ ယုံကြည်ကြကုန်သောသူတို့မှာကား ထိုသူတို့သည်ပင်လျှင် ထိုသူတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်အထံတော်၌ သစ္စာဝါဒီများသည်လည်းကောင်း၊ *'ရှဟီးဒ်' အလ္လာဟ်အရှင်မြတ်၏ လမ်းတော်၌ အသက်စွန့်ခဲ့ကြသောသူများသည်လည်းကောင်း၊ ဖြစ်ကြကုန်၏။* [၁]

ထိုသူတို့အဖို့ ထိုသူတို့၏(ထူးကဲသော)အကျိုးသည်လည်းကောင်း၊ ထိုသူတို့၏(ထူးကဲသော) ရောင်ခြည်သည်လည်းကောင်း၊ ရှိပေမည်။ သို့ရာတွင် အကြင်သူတို့သည် သွေဖည် ငြင်းပယ်ကြကုန်၏။ ၎င်းပြင် ငါအရှင်မြတ်၏ သက်သေလက္ခဏာတော်များကို မဟုတ်မမှန်ဟူ၍ ငြင်းပယ်ခဲ့ကြကုန်၏။ ထိုသူတို့မှာမူကား 'ဂျဟန္နမ်'ငရဲသားများပင် ဖြစ်ကြကုန်သတည်း။

---

(၁) အကြင်သူများသည် အလ္လာဟ်အရှင်မြတ်အားလည်းကောင်း၊ ထိုအရှင်မြတ်၏ တမန်တော်များအားလည်းကောင်း၊ စိတ်စေတနာ ဖြူစင်စွာဖြင့် နှစ်နှစ်ကာကာ သက်ဝင်ယုံကြည်ကြ၏။ တရားတော်များကိုလည်း တာဝန်သိသိ သစ္စာရှိရှိ စွမ်းစွမ်းတမံ နာယူကျင့်မှုခဲ့ကြ၏။ တစ်နည်းဆိုသော် ကိုယ်၊ နှုတ်၊ နှလုံးအားဖြင့် မုအ်မင်န်ပီသကြ၏။ ထိုသို့သောမုအ်မင်န်များသည် အလ္လာဟ်အရှင်မြတ်၏အထံတော်၌ 'ဆွစ်ဒ်ဒီက်' သစ္စာဝါဒီ၊ 'ရှဟီးဒ်' အစ္စလာမ့်အာဇာနည်များအဆင့်သို့ ရောက်ရှိသွားကြကုန်၏။ ထိုသို့သော မုအ်မင်နန်များသည် အထူးထူးသော ကုသိုလ်အကျိုးကိုလည်း ရရှိကြပေမည်ဖြစ်၏။ ထူးထွေဆန်းပြားလှသော လင်းရောင်ခြည်ကိုလည်း ရရှိကြမည်ဖြစ်၏။ ➢➢

اِعْلَمُوْٓا اَنَّمَا الْحَيٰوةُ الدُّنْيَا لَعِبٌ وَّلَهْوٌ وَّزِيْنَةٌ وَّتَفَاخُرٌۢ بَيْنَكُمْ وَتَكَاثُرٌ فِى الْاَمْوَالِ وَالْاَوْلَادِ ۗ كَمَثَلِ غَيْثٍ اَعْجَبَ الْكُفَّارَ نَبَاتُهٗ ثُمَّ يَهِيْجُ فَتَرٰىهُ مُصْفَرًّا ثُمَّ يَكُوْنُ حُطَامًا ۗ وَفِى الْاٰخِرَةِ عَذَابٌ شَدِيْدٌ ۙ وَّمَغْفِرَةٌ مِّنَ اللّٰهِ وَرِضْوَانٌ ۗ وَمَا الْحَيٰوةُ الدُّنْيَآ اِلَّا مَتَاعُ الْغُرُوْرِ ۞٢٠

၂၀။ အသင်တို့သည် ကောင်းစွာ သိထားကြလေကုန်။ လောကီဘဝသည် ကစားခုန်စားမှု သက်သက်သည်လည်းကောင်း၊ အလဟဿ (ပျော်ရွှင်ခြင်းအားဖြင့်) အချိန်ဖြုန်းတီးမှုသည်လည်းကောင်း၊ မျက်စိပသာဒဖြစ်ခြင်းသည်လည်းကောင်း၊ အသင်တို့ အချင်းချင်း တစ်ဦးနှင့်တစ်ဦး ဂုဏ်ပြိုင်ခြင်းသည် လည်းကောင်း၊ ပစ္စည်းဥစ္စာနှင့် သားသမီးပေါ်များမှုနှင့် စပ်လျဉ်း၍ အချင်းချင်း ဂုဏ်တုဂုဏ်ပြိုင်ခြင်းသည် လည်းကောင်း၊ ဖြစ်ပေသည်။

အကြင် မိုးရေကဲ့သို့ပင် ထိုမိုးရေကြောင့် ပေါက်ရောက်သောမျိုးပင်များသည် တောင်သူလယ်သမားတို့အား နှစ်သက်ရွှင်ပျော်စေ၏။ ထို့နောက် ယင်းမျိုးပင်များသည် သွေ့ခြောက်၍ သွားလေသောအခါ အသင်သည် ယင်းမျိုးပင်များ ဝါ၍နေသည်ကို တွေ့မြင်ရ၏။ ထို့နောက်သော်ကား ယင်းမျိုးပင်မှာ အစိတ်စိတ် အမြွှာမြွှာ ဖြစ်သွားလေ၏။

➤➤ 'ဆွစ်ဒ်ဒီက်' ဟူသည် ဤအာယတ်တော်တွင် 'ဝလီ' သူတော်စင်အနက်၌ဖြစ်၏။ အဘိဓာန်အရဆိုသော် 'ဆွစ်ဒီက်'သည် မှန်ကန်မှုကို အလွန့်အလွန် ကျင့်သူကို ဆိုလိုသည်။ အမြဲတစေ အမှန်ကိုသာ တွေးသည်။ အမှန်ကိုသာပြောသည်။ အမှန်ကိုသာကျင့်သည်။ ကြည့်-ရာဃိဗ်၊ မအာလင်မ်၊ ဂျလာလိုင်န်။

ဤအာယတ်တော်တွင် 'ရှဟီးဒ်' ဟူသည် သက်သေအနက်၌ဖြစ်သည်။ ၎င်းတို့သည် ကိယာမတ်နေ့တွင် သူတစ်ပါးနှင့်ပတ်သက်၍ သက်သေထွက်ဆိုကြပေမည်။ ကုရ်အာန် (၂း၁၄၃)၊ကြည့်-မာဂျိဒီ၊ မဒါရိက်။

စိတ်စေတနာ ဖြူစင်သော မုအ်မင်န်၏ အနက်၌လည်း ကောက်ယူနိုင်၏။ ကြည့်-မအာလင်မ်။

အလ္လာဟ်အရှင်မြတ်၏ လမ်းတော်၌ အသက်စွန့်သွားသော အစ္စလာမ့်အာဇာနည် သူရဲကောင်းအနက်၌လည်း ကောက်ယူနိုင်၏။ အကယ်၍ ဤအာယတ်တော်တွင် 'ရှဟီးဒ်' ကို အစ္စလာမ့် အာဇာနည်သူရဲကောင်းအနက်၌ ကောက်ယူပါက အလိုသဘောမှာ ပြည့်ဝစုံလင်သော မုအ်မင်န်များသည် အခါခပ်သိမ်း မိမိတို့၏ ဥစ္စာပစ္စည်းနှင့်တကွ အသက်ကိုပါ အလ္လာဟ်အရှင်မြတ်၏လမ်းတော်၌ စွန့်လှူထားပြီးသား ဖြစ်ကြပေသည်။ သို့စွန့်လှူထားကြပြီး နောက်ပိုင်းတွင် အသက်စွန့်လှူခွင့်ရကြသည် မရကြသည်မှာကား ၎င်းတို့ အရေးပိုင်သောကိစ္စ မဟုတ်ချေ။ ဆိုလိုသည်ကား ၎င်းတို့သည် ကိုယ်ထိလက်ရောက် အသက်စွန့်လှူ မရရှိခဲ့ကြသည်ပင် ဖြစ်စေကာမူ၊ မိမိတို့၏ ဥစ္စာပစ္စည်းနှင့် အသက်ကို စွန့်လှူထားကြပြီးဖြစ်သည့်အတွက် အလ္လာဟ်အရှင်မြတ်၏အထံတော်၌ အဆင့်အတန်းအားဖြင့် 'ရှဟီးဒ်' အဆင့်အတန်းတွင်ရှိကြပေမည်ဟူ၏။ မာဂျိဒီ၊ ထာနဝီ။

သို့ရာတွင် 'အာခိရတ်' တမလွန်ဘဝ၌မူကား ပြင်းထန်လှစွာသောပြစ်ဒဏ်သည်လည်းရှိ၏။ အလ္လာဟ် အရှင်မြတ်အထံတော်မှ လွတ်ငြိမ်းချမ်းသာခွင့်နှင့် နှစ်မြို့မှုလည်း ရှိပေသည်။ စင်စစ်သော်ကား လောကီဘဝသည် အမြင်မှောက်မှားစေသော ဝတ္ထုပစ္စည်းမျှသာ ဖြစ်ပေသတည်း။

سَابِقُوْٓا اِلٰى مَغْفِرَةٍ مِّنْ رَّبِّكُمْ وَجَنَّةٍ عَرْضُهَا كَعَرْضِ السَّمَآءِ وَالْاَرْضِۙ اُعِدَّتْ لِلَّذِيْنَ اٰمَنُوْا بِاللّٰهِ وَرُسُلِهٖؕ ذٰلِكَ فَضْلُ اللّٰهِ يُؤْتِيْهِ مَنْ يَّشَآءُؕ وَاللّٰهُ ذُو الْفَضْلِ الْعَظِيْمِ ﴿٢١﴾

၂၁။ အသင်တို့သည် မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်၏ လွတ်ငြိမ်းချမ်းသာခွင့်ကိုလည်းကောင်း၊ မိုးနှင့်မြေ၏ အကျယ်အဝန်းပမာ ကျယ်ဝန်းသော 'ဂျန္နတ်'သုခဘုံသို့ လည်းကောင်း၊ ပြိုင်ဆိုင် ပြေးကြလေကုန်။ ယင်း'ဂျန္နတ်' သုခဘုံမှာ အလ္လာဟ်အရှင်မြတ်အားလည်းကောင်း၊ ထိုအရှင်မြတ်၏ ရစူလ်တမန်တော်တို့အားလည်းကောင်း၊ သက်ဝင်ယုံကြည်ကြကုန်သောသူတို့အဖို့ *အဆင်သင့် ပြုလုပ်ထားရှိပြီးဖြစ်၏။* [၁] ထိုသည်ကား အလ္လာဟ်အရှင်မြတ်၏ကျေးဇူးတော်ပင်၊ ထိုအရှင်မြတ်သည် ယင်းကျေးဇူးတော်ကို မိမိအလိုရှိတော်မူသောသူအား ချီးမြှင့်ပေးသနားတော်မူ၏။ စင်စစ်မှာကား အလ္လာဟ်အရှင်မြတ်သည် ကြီးကျယ်လှစွာသော ကျေးဇူးတော်ရှင် ဖြစ်တော်မူပေသတည်း။

---

(၁) __ဤပစ္စုပ္ပန်ဘဝသည် သခ်ါရမျှသာဖြစ်သည် တမလွန်ဘဝသည်အဓိက။__

လူသည် ပထမအရွယ်တွင် ကစားခုန်စားမှု၊ ဘာသာဘာဝ မြူးပျော်မှုများတွင် နစ်မွန်းနေ၏။ ဒုတိယအရွယ်တွင် လှပမှု၊ ဆင်ယင်မှု၊ ချစ်ကြိုက်မှု၊ စားဝတ်နေရေး၊ ဖန်တီးမှုများတွင် နစ်မွန်းနေ၏။ တတိယအရွယ်တွင် ဥစ္စာပစ္စည်း၊ သားသမီး၊ ရာထူးဌာနန္တရများနှင့်စပ်လျဉ်း၍ ကြွားဝါးမှု၊ ဂုဏ်ပြိုင်မှုများတွင် နစ်မွန်းနေ၏။ သေခါနီးသည့်အခါ ဥစ္စာပစ္စည်း၊ သားသမီးသံယောဇဉ်နှောင်ကြိုးများတွင် ရစ်ပတ်ကာ ပူပန်သောကဖြစ်နေရပြန်သည်။ သေခြင်းပင်မဖြောင့်ပေ။ ဤသို့ဖြင့် လူသည် မိမိ၏ဘဝသက်တမ်း၊ တစ်လျှောက်လုံးတွင် လောကီရေးရာများတွင်ပင် နစ်မွန်းနေ၏။ အမှန်မှာ ဤပစ္စုပ္ပန်ဘဝကား၊ အရိပ်ပမာ သခ်ါရမျှသာ ဖြစ်၏။ မကြာမီ အတွင်း ချုပ်ငြိမ်းသွားမည်သာဖြစ်၏။ ➢➢

مَآ اَصَابَ مِنۡ مُّصِيۡبَةٍ فِى الۡاَرۡضِ وَلَا فِىۡۤ اَنۡفُسِكُمۡ اِلَّا فِىۡ كِتٰبٍ مِّنۡ قَبۡلِ اَنۡ نَّبۡرَاَهَا ؕ اِنَّ ذٰ لِكَ عَلَى اللّٰهِ يَسِيۡرٌ ۚ ﴿۲۲﴾

၂၂။ မည်သည့် ဘေးဒုက္ခမျှပင် ကမ္ဘာမြေ၌ လည်းကောင်း၊ အသင်တို့ကိုယ်၌ လည်းကောင်း၊ ဆိုက်ရောက်သည် မဟုတ်ပေ။ သို့ရာတွင် ငါအရှင်မြတ်သည် ယင်းဘေးဒုက္ခ၊ ကမ္ဘာမြေနှင့်အသင်တို့၏ ဇီဝိန်များကို ဖန်ဆင်းတော်မမူမီကပင်လျှင် မှတ်တမ်းစာအုပ်တွင် (ရေးသား၍ထားတော်မူပြီး ဖြစ်၏)။ ဧကန်အမှန် ဤသည် အလ္လာဟ်အရှင်မြတ်၌ လွယ်ကူလှပေသည်။

---

➤➤ ဤပစ္စက္ခဘဝသည် ခေတ္တခဏ စိမ်းစိုသာယာနေသော လယ်ယာနှင့် တူ၏။ လယ်ရှင် ယာရှင်သည် စိမ်းစိုသာယာလျက်ရှိသော မိမိ၏ လယ်ယာကို ကြည့်ပြီး ဝမ်းသာ၏၊ ကြည်နူး၏ သို့ရာတွင် ယင်းလယ်ယာသည် မကြာမီအတွင်းမှာပင် ခြောက်သွေ့သွား၏ ဝါတာတာဖြစ်လာ၏။ နောက်ဆုံးတွင် အစိတ် စိတ်အမြွာမြွာဖြစ်ကာ၊ ပျက်စီးယိုယွင်းသွား၏။ ဤကား မျက်မြင်ပင်။

အမှန်မှာ ဤပစ္စက္ခဘဝမှာ အမြင်မှောက်မှားစေသည့် လှည့်စား ဖြားယောင်းရာ ပစ္စည်းမျှသာဖြစ်သည်။ လူသည် ဤပစ္စက္ခ ဘဝ၏ ယာယီသာယာမှုကို ကြည့်ပြီး မှောက်မှားကာ မိမိ၏ နောင်ရေးကို ဖျက်ဆီးပစ်သည်။ အမှန်မှာ လောကီရေးရာများသည် သေပြီးသည့် နောက်ပိုင်းတွင် အသို့မျှ အသုံးဝင်သည်မရှိ။

နောင်တမလွန်ဘဝတွင် အသုံးဝင်မည့် အရာကား (အီမာန်) ယုံကြည်မှုနှင့် (အမလ်ဆွာလိဟ်) ကောင်းမြတ်သော အကျင့်သီလပင် ဖြစ်သည်။ အကြင်သူသည် ဤယုံကြည်ချက်နှင့် ကောင်းမြတ်သော အကျင့်သီလကို ယူဆောင်သွားနိုင်ပါက ထိုသူသည် အောင်မြင်မည်။ နောင်တမလွန်ဘဝတွင် အလ္လာဟ်အရှင်မြတ်၏ လွတ်ငြိမ်းခွင့်နှင့် ကျေနပ်မှုကို ခံစားရမည်။

အကြင်သူသည် (အီမာန်) ယုံကြည်မှုလည်းမပါ။ (အမလ်ဆွာလိဟ်) ကောင်းမြတ်သော အကျင့်သီလကိုလည်း မဆောင်၊ သွေဖည်ငြင်းဆန်မှုနှင့် ယုတ်မာ ဆိုးသွမ်းသော ဒုစရိုက်များကိုသာ ယူဆောင်သွားသော်၊ ထိုသူသည် နောင်တမလွန်ဘဝတွင် အရှုံးကြီး ရှုံးရပေမည်။ ကြီးလေးသောပြစ်ဒဏ် ခံရပေမည်။

သို့ဖြစ်ရာ ယာယီမျှသာဖြစ်သော ဤပစ္စက္ခဘဝကို မိမိ၏နောက်ဆုံးပန်းတိုင်ဟု မထင်မှတ်ရာ၊ လောကီရေးရာများတွင် နစ်မွန်းကာ၊ မိမိ၏နောင်ရေးကို မဖျက်ဆီးရာ၊ အမြဲထာဝစဉ် တည်နေမည့် နောင်တမလွန်ဘဝ၏ ကောင်းစားရေးကိုသာ ရှေးရှုရာသည်။ အလ္လာဟ်အရှင်မြတ်၏ လွတ်ငြိမ်းချမ်းသာခွင့် ရရှိကာ၊ မိုးမြေတမျှ အတိုင်းမသိ ကြီးမားလှဘိသည့် အံ့မခန်းသော ဂျန္နတ်သုခဘုံတွင် စံမြန်းနိုင်ရန်သာ သူထက်ငါ ကြိုးစားရာသည်။ ဤသည့်သဘောကို ကုရ်အာန် (၃း၁၉၅-၁၉၇၊ ၆း၃၂၊ ၂၉း၆၄၊ ၄၇း၃၆-၃၈)တွင်လည်း တွေ့ရှိရပေသည်။

لِّكَيْلَا تَأْسَوْا عَلَىٰ مَا فَاتَكُمْ وَلَا تَفْرَحُوا بِمَا آتَاكُمْ ۗ وَاللَّهُ لَا يُحِبُّ كُلَّ مُخْتَالٍ فَخُورٍ ﴿٢٣﴾

၂၃။ အသင်တို့သည် မိမိတို့ထံမှ လွတ်သွားသော အရာနှင့် စပ်လျဉ်း၍ ပူဆွေးခြင်းမရှိကြရန် လည်းကောင်း၊ မိမိတို့အား ထိုအရှင်မြတ်က ချီးမြှင့်ပေးသနားတော်မူသောအရာနှင့်စပ်လျဉ်း၍ ဝမ်းမြောက် မော်ကြွားခြင်းမပြုကြရန်လည်းကောင်း၊ (ထိုအရှင်မြတ်သည် အသင်တို့အား ဤသည်ကို သိစေတော်မူခြင်းဖြစ်၏)။ အမှန်သော်ကား *အလ္လာဟ်အရှင်မြတ်သည် မည်သည့် မာန်မာနထောင်လွှားသူ၊ ဂုဏ်မောက်သူကိုမျှ နှစ်သက်တော်မူသည် မဟုတ်ပေ။* [၁]

الَّذِينَ يَبْخَلُونَ وَيَأْمُرُونَ النَّاسَ بِالْبُخْلِ ۗ وَمَن يَتَوَلَّ فَإِنَّ اللَّهَ هُوَ الْغَنِيُّ الْحَمِيدُ ﴿٢٤﴾

၂၄။ (၎င်းတို့ကား) အကြင်သူများပင်။ ထိုသူတို့သည် မိမိတို့ကိုယ်တိုင် စေးနှဲကြသည်သာမက၊ သူတပါးတို့အားလည်း စေးနှဲကြရန် အမိန့်ပေးကြကုန်၏။

စင်စစ်သော်ကား မည်သူမဆို (သုံးစွဲလှူဒါန်းခြင်းမပြုဘဲ) မျက်နှာလွှဲ၍ ထွက်သွားလျှင် ဧကန်အမှန် အလ္လာဟ်အရှင်မြတ်သည် လိုလားတောင့်တခြင်းကင်းမဲ့တော်မူသောအရှင်၊ ချီးမွမ်းအပ်သော ဝိသေသဂုဏ်ထူးအပေါင်းတို့နှင့် ပြည့်စုံတော်မူသော အရှင်မြတ်ဖြစ်တော်မူပေသတည်း။

---

(၁) အထက်တွင် မိန့်ဆိုထားတော်မူသည့်အတိုင်း အလ္လာဟ်အရှင်မြတ်သည် ဤလောကဓာတ်ကြီးကို ဖန်ဆင်းတော်မမူမီ အလျင်ကတည်းကပင်၊ ဤလောကဓာတ်ကြီးတွင် ဖြစ်ပျက်သက်ရောက်အံ့သော ကိစ္စအဝဝကို ကြိုတင်သိရှိတော်မူသည်။ သို့ သိရှိတော်မူသည့်အတိုင်း 'လောင်ဟ်မဟ်ဖူဇ်' မှတ်တမ်းတော်တွင် မှတ်သားထားတော်မူခဲ့သည်။ သို့မှတ်သားထားတော်မူခဲ့သည့်အတိုင်း အပိုအလိုမရှိ ဖြစ်ပျက်လျက်ရှိသည်။ ဤသည့်အကြောင်းကို လူသားတို့အား အသိပေးတော်မူခြင်းမှာ လူသားတို့သည် မိမိတို့ထံမှ ဖိတ်စဉ် ဆုံးပါးသွားသော အရာများနှင့် စပ်လျဉ်း၍ မပူဆွေးရန် မိမိတို့ထံသို့ ရောက်ရှိလာ သော သုခချမ်းသာများကို အကြောင်းပြု၍ မဝါကြွားရန်ပင် ဖြစ်သည်။ အဘယ်ကြောင့်ဆိုသော် မှတ်တမ်းတော်တွင် မိမိ၌ တစ်စုံတစ်ရာ ဒုက္ခဖြစ်ရန် ပါရှိနေပါက မုချဒုက္ခဖြစ်ရမည်သာ၊ မရှောင်ကွင်းသာ၊ မှတ်တမ်းတော်တွင် မိမိ၌ တစ်စုံတစ်ရာ သုခဖြစ်ရန် ပါရှိနေပါက မုချ သုခဖြစ်ရမည်သာ။ သို့ဖြစ်ရာ ဒုက္ခဖြစ်က မပူပန်ရာ သည်းခံရမည်သာ။ သုခဖြစ်က မဝါကြွားရာ အလ္လာဟ်အရှင်မြတ်အား ကျေးဇူး တင်ရမည်သာ။ ➢➢

لَقَدْ أَرْسَلْنَا رُسُلَنَا بِالْبَيِّنٰتِ
وَأَنْزَلْنَا مَعَهُمُ الْكِتٰبَ
وَالْمِيزَانَ لِيَقُومَ النَّاسُ
بِالْقِسْطِ ۚ وَأَنْزَلْنَا الْحَدِيدَ
فِيهِ بَأْسٌ شَدِيدٌ وَمَنَافِعُ
لِلنَّاسِ وَلِيَعْلَمَ اللّٰهُ مَنْ
يَنْصُرُهُ وَرُسُلَهُ بِالْغَيْبِ ۚ
إِنَّ اللّٰهَ قَوِيٌّ عَزِيزٌ ﴿٢٥﴾

၂၅။ ဧကန်မလွဲ ငါအရှင်မြတ်သည် မိမိ ရစူလ်တမန်တော်များအား ထင်ရှားစွာသော သက်သေလက္ခဏာများနှင့်တကွ စေလွှတ်တော်မူခဲ့၏။ ထိုမှတစ်ပါး ငါအရှင်မြတ်သည် ထိုရစူလ်တမန်တော်များနှင့်အတူလူတို့သည် တရားမျှတမှုပေါ်၌ရပ်တည်ကြအံ့သောငှာ ကျမ်းဂန်ကိုလည်းကောင်း၊ တရားမျှတမှုကိုလည်းကောင်း ချပေးသနားတော်မူခဲ့၏။

ထိုမှတစ်ပါး ငါအရှင်မြတ်သည် သံသတ္တုကို ချပေးတော်မူခဲ့၏။ယင်းသံသတ္တု၌ ကြီးကျယ် ပြင်းထန်လှသော စွမ်းအင်ရှိပေသည်။ လူသားတို့အဖို့ အကျိုးကျေးဇူးများလည်း ရှိသည်။ ၁

>> အကြင်သူတစ်ဦးသည် ဒုက္ခဖြစ်သည်တွင်သည်းခံ၏။ ကြံ့ခိုင်၏။ မတုန်လှုပ်၊ မချောက်ချား၊ သုခဖြစ်သည်တွင်လည်း မဝါကြွား။ သို့ဖြစ်လျှင် ထိုသူသည်အမြဲ တစေ စိတ်ချမ်းသာမှု ရရှိနေမည်သာဖြစ်သည်။ အကြင်သူတစ်ဦးသည် ဒုက္ခဖြစ်သည်တွင် သည်းခံနိုင်သည်မရှိ။ တုန်လှုပ်၏။ ချောက်ချား၏။ စိတ်ဓာတ်ကျဆင်း၏။ သုခဖြစ်ရာတွင် မိမိကိုယ်ကို အထင်ကြီး၏။ မော်ကြွား၏။ ထိုသူသည် အမြဲတစေ စိတ်ဆင်းရဲနေရမည်သာဖြစ်သည်။

**(၁) တမန်တော်များ၊ ကျမ်းဂန်၊ ချိန်ခွင်၊ သံ၊**

အလ္လာဟ်အရှင်မြတ်သည် မိမိ၏ကျေးဇူးတော်ဖြင့် တမန်တော်များအား ထင်ရှားသော သက်သေလက္ခဏာတော်များကို ချီးမြှင့်၍ စေလွှတ်တော်မူခဲ့၏။ ထို့ပြင်တစ်ဝ ထိုအရှင်မြတ်သည် လူသားတို့ တရားမျှတမှုအပေါ်၌ ရပ်တည်နေနိုင်ကြရန် အလို့ငှာ၊ တမန်တော်များနှင့်အတူတကွ (ကိတာဗ်)ကျမ်းဂန်ကိုလည်း ချပေးတော်မူခဲ့၏။ (မီဇာန်)ချိန်ခွင်ကိုလည်း ချပေးတော်မူခဲ့၏။ ထိုမှတစ်ပါး သံသတ္တုကိုလည်း ချပေးတော်မူခဲ့၏။

တမန်တော်များအား စေလွှတ်တော်မူခြင်းမှာ အလ္လာဟ်အရှင်မြတ်၏ တရားတော်များကို ဟောကြား၍ စံနမူနာအဖြစ် လက်တွေ့ကျင့်သုံးကြရန် ဖြစ်သည်။ ကျမ်းဂန်ကို ချပေးတော်မူခြင်းမှာ၊ လူသားတို့သည် ယုံကြည်ချက်များ ကိုယ်ကျင့်တရားများတွင် အလွန်အကျွံမဖြစ်ဘဲ၊ တစ်ဖက်စွန်းသို့ ရောက်ရှိမသွားဘဲ၊ ဖြောင့်မတ်မှန်ကန်စွာ လိုက်နာကျင့်သုံးကြရန် ဖြစ်သည်။

ချိန်ခွင်ကို ချပေးတော်မူခြင်းမှာ ရောင်းဝယ်ဖောက်ကားမှုများတွင် ယိမ်းယိုင်တိမ်းစောင်းခြင်းမရှိဘဲ၊ ချိန်ခွင်လျှာပမာ တည့်မတ်စွာ လိုက်နာကျင့်သုံးကြရန်ပင်ဖြစ်သည်။ ဆိုလိုသည်ကား (ဟုကူကုလ္လာဟ်) အလ္လာဟ်အရှင်မြတ်နှင့် ပတ်သက်သော တာဝန်များကို ဆောက်ရွက် ရာတွင်လည်းကောင်း၊ (ဟုကူကုလ်အိဗာဒ်) လူသားတို့အချင်းချင်းနှင့် ပတ်သက်သော တာဝန်များကို ဆောင်ရွက်ရာ တွင်လည်းကောင်း၊ လူသားတို့သည် အမြဲတစေ ဖြောင့်မတ်မှန်ကန်ကြရပေမည်။ တရားမျှတစွာ ဆောင်ရွက်ကြရပေမည်။ >>

ထိုမှတစ်ပါး မည်သူသည် မမြင်ဘဲလျက် အလ္လာဟ်အရှင်မြတ်အားလည်းကောင်း၊ ထိုအရှင်မြတ်၏ ရစူလ်တမန်တော်များအားလည်းကောင်း၊ ကူညီသည်ကို အလ္လာဟ်အရှင်မြတ်သည် သိတော်မူအံ့သောငှာ (ချပေးတော်မူခြင်းလည်းဖြစ်၏)။ မလွဲဧကန် အလ္လာဟ်အရှင်မြတ်မှာမူကား အလွန်တရာ အားအင်ပြည့်စုံသောအရှင်၊ အလွန်တရာ နိုင်နင်းလွှမ်းမိုးတော်မူသောအရှင်မြတ် ဖြစ်တော်မူပေသတည်း။

وَلَقَدْ أَرْسَلْنَا نُوحًا وَإِبْرَٰهِيمَ وَجَعَلْنَا فِى ذُرِّيَّتِهِمَا ٱلنُّبُوَّةَ وَٱلْكِتَـٰبَ ۖ فَمِنْهُم مُّهْتَدٍ ۖ وَكَثِيرٌ مِّنْهُمْ فَـٰسِقُونَ ٢٦

၂၆။ ထိုမှတစ်ပါး ငါအရှင်မြတ်သည် (နဗီ တမန်တော်) 'နူဟ်'အားလည်းကောင်း၊ (နဗီတမန်တော်) 'အီဗ်ရာဟီမ်'အား လည်းကောင်း၊ စေလွှတ်တော်မူ၏။ ၎င်းပြင် ငါအရှင်မြတ်သည် ထို(နဗီတမန်တော်)'နူဟ်' နှင့် (နဗီတမန်တော်)'အီဗ်ရာဟီမ်' နှစ်ပါးတို့၏ သား၊မြေးတို့၌ နဗီတမန်တော် ဖြစ်မှုကိုလည်းကောင်း၊ ကျမ်းဂန်ကိုလည်းကောင်း၊ သတ်မှတ်၍ ပေးသနားတော်မူခဲ့ရာ ၎င်းတို့တွင် တရားလမ်းမှန်ကို ရရှိသူများလည်း ရှိခဲ့ကြကုန်၏။ သို့ရာတွင် ၎င်းတို့အနက် *မြောက်မြားစွာသောသူတို့မှာ သွေဖည်သူများပင် ဖြစ်ခဲ့ကြ၏။* [၁]

➤➤ သံသည် အလွန်ပြင်းထန်သည်။ လူသားတို့အဖို့ အကျိုးများလှသည်။ လူသားတို့၏ အသုံးအဆောင်များတွင် သံသည်များစွာ အသုံးဝင်သည်။ များသောအားဖြင့် လက်နက်ကိရိယာများသည် သံဖြင့်ပြုလုပ်ရပေသည်။ ယင်းသို့သံကို ချပေးတော်မူခြင်းမှာ အကယ်၍ ကျမ်းဂန်လာ တရားတော် များကို ဖောက်ဖျက်လာကြသည့်အခါ တရားမျှတခြင်းတည်းဟူသော ချိန်ခွင်ကို ရိုက်ချိုးလာကြသည့်အခါ လိုအပ်ပါက မဖြစ်သာသည့်အဆုံးတွင် သံကို (ဝါ)အာဏာကို (ဝါ) လက်နက်ကို အသုံးပြုနိုင်ရန်ပင်ဖြစ်သည်။ လက်နက်ဆွဲကိုင်၍ အလ္လာဟ်အရှင်မြတ်၏ လမ်းတော်၌ ဂျိဟာဒ်ပြုလုပ်ခြင်းမှာလည်း ဤသည့်သဘောပင်။

(၁) အလ္လာဟ်အရှင်မြတ်သည် တမန်တော် နူဟ်နှင့် တမန်တော် အစ်ဗ်ရာဟီမ်တို့အား စေလွှတ်တော်မူခဲ့သည်။ ထိုတမန်တော်ကြီး ၂-ပါး၏ သားမြေးတို့တွင်လည်း မြောက်မြားစွာသော တမန်တော်များအား ပေါ်ထွန်းစေတော်မူခဲ့သည်။ ယင်းတို့အနက် အချို့တို့အား ကျမ်းဂန်းများကိုလည်း ချီးမြှင့်တော်မူခဲ့သည်။ ဥပမာ တမန်တော်မူစာသည် အဆိုပါ တမန်တော်ကြီး ၂-ပါး၏သားမြေးများတွင် ပါဝင်ခဲ့သည်။ ➤➤

ثُمَّ قَفَّيْنَا عَلَىٰٓ ءَاثَٰرِهِم بِرُسُلِنَا وَقَفَّيْنَا بِعِيسَى ٱبْنِ مَرْيَمَ وَءَاتَيْنَٰهُ ٱلْإِنجِيلَ وَجَعَلْنَا فِى قُلُوبِ ٱلَّذِينَ ٱتَّبَعُوهُ رَأْفَةً وَرَحْمَةً وَرَهْبَانِيَّةً ٱبْتَدَعُوهَا مَا كَتَبْنَٰهَا عَلَيْهِمْ إِلَّا ٱبْتِغَآءَ رِضْوَٰنِ ٱللَّهِ فَمَا رَعَوْهَا حَقَّ رِعَايَتِهَا فَـَٔاتَيْنَا ٱلَّذِينَ ءَامَنُوا۟ مِنْهُمْ أَجْرَهُمْ وَكَثِيرٌ مِّنْهُمْ فَٰسِقُونَ ٢٧

၂၇။ ထို့နောက် ငါအရှင်မြတ်သည် ၎င်းတို့၏ နောက်တွင် မိမိရစူလ်တမန်တော်များအား အဆက် မပြတ် စေလွှတ်တော်မူခဲ့၏။ ထို့နောက် ငါအရှင်မြတ် သည် 'မရ်ယမ်'၏သားတော် (နဗီတမန်တော်)'အီစာ' အား စေလွှတ်တော်မူခဲ့၏။ ၎င်းပြင် ငါအရှင်မြတ် သည် ထို 'အီစာ'အား 'အင်န်ဂျီလ်'ကျမ်းတော်ကို ချီးမြှင့် ပေးသနားတော်မူခဲ့၏။ ထိုမှတစ်ပါး ငါအရှင်မြတ် သည် ထို'အီစာ' ၏နောက်သို့လိုက်ခဲ့ကြသောသူတို့ ၏စိတ်နှလုံးများတွင် နူးညံ့သိမ်မွေ့မှုကိုလည်းကောင်း၊ ကရုဏာတရားကိုလည်းကောင်း ထည့်သွင်းပေးတော် မူခဲ့၏။

သို့ရာတွင် (၎င်းတို့ကိုယ်တိုင်) အလ္လာဟ်အရှင် မြတ်၏ နှစ်မြို့မှုရှာဖွေအံ့သောငှာ (တောထွက် လမ်းစဉ် ကို လိုက်နာကျင့်သုံးခဲ့ကြကုန်၏)။ သို့ပါသော်လည်း ၎င်းတို့သည် ယင်းတောထွက်လမ်းစဉ်ကို *စောင့်စည်း အပ်သောဝတ္တရားနှင့်အညီ စောင့်စည်းနိုင်ကြသည် မရှိချေ။* ၁

>> ကျမ်းဂန်ချီးမြှင့်တော်မူခြင်း ခံခဲ့ကြရသည်။

တမန်တော် ဟူဒ်နှင့် တမန်တော်ဆွာလိဟ် ၂-ပါးသည် ကျမ်းဂန်ချီးမြှင့်တော်မူခြင်းခံခဲ့ကြရသည်။ မခံခဲ့ကြရသည်ကိုမူ အတိအကျ မသိရှိရပေ။ အဆိုပါ တမန်တော်များ၏ နောက်တွင်လည်း အလ္လာဟ်အရှင်မြတ် သည် အခြားတမန်တော်များအား အဆက်မပြတ် စေလွှတ်တော်မူခဲ့ပေသည်။ ထိုထိုသော တမန်တော်များ၏ နောက်လိုက် တပည့် သားတို့တွင် အချို့တရားရရှိခဲ့ကြသော်လည်း၊ အများစုမှာကား သွေဖည်ခဲ့ကြပေသည်။ ဤကား အတိတ်ခေတ် တမန်တော်လောက၏ ပထမပိုင်း ဖြစ်စဉ်ဖြစ်ရပ်ပင်။

(၁) **ရဟ်ဗာနီယတ်=တောထွက်လမ်းစဉ်။**

တမန်တော်အီစာ(အလိုင်ဟစ္စလာမ်)၏ နောက်လိုက်တပည့်သားတို့သည် နောက်ပိုင်းတွင် ဘာသာမဲ့ သာသနာမဲ့ မင်းဆိုးများ၏ ဖိနှိပ်ချုပ်ချယ်မှုများကိုလည်း အလူးအလိမ့် ခံစားလာခဲ့ကြရ၏။ ရှုပ်ထွေးပွေလီလှသော လောကီရေးရာများကိုလည်း စက်ဆုပ်ရွံမုန်းလာခဲ့ကြ၏။ ထိုအခါ ၎င်းတို့သည် (ရဟ်ဗာနီယာတ်) တောထွက် လမ်းစဉ်ကို အသစ်တီထွင်လာခဲ့ကြ၏။ ၎င်းတို့၏ စေတနာမှာလည်း အလ္လာဟ်အရှင်မြတ်၏ နှစ်သက်မှုကို ဆည်းပူးရပ်ပင်ဖြစ်ခဲ့၏။ >>

မည်သို့ပင်ဖြစ်စေ ငါအရှင်မြတ်သည် ၎င်းတို့အနက် သက်ဝင် ယုံကြည်ခဲ့ကြသောသူတို့အား ၎င်းတို့၏အကျိုးကို ချီးမြှင့်ပေးသနားတော်မူခဲ့၏။ သို့ရာတွင် ၎င်းတို့အနက် မြောက်မြားစွာသောသူတို့မှာကား သွေဖည်သူများပင် ဖြစ်ကြကုန်သတည်း။

يَٰٓأَيُّهَا ٱلَّذِينَ ءَامَنُواْ ٱتَّقُواْ ٱللَّهَ وَءَامِنُواْ بِرَسُولِهِۦ يُؤْتِكُمْ كِفْلَيْنِ مِن رَّحْمَتِهِۦ وَيَجْعَل لَّكُمْ نُورًا تَمْشُونَ بِهِۦ وَيَغْفِرْ لَكُمْ ۚ وَٱللَّهُ غَفُورٌ رَّحِيمٌ ﴿٢٨﴾

၂၈။ အို-'မုအ်မင်န်' သက်ဝင်ယုံကြည်သူ အပေါင်းတို့၊ အသင်တို့သည် အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ကြလေကုန်၊ ၎င်းပြင် အသင်တို့သည် ထိုအရှင်မြတ်၏ ရစူလ်တမန်တော်မြတ်အား ယုံကြည်ကြလေကုန်။ ထိုအရှင်မြတ်သည် အသင်တို့အား မိမိကရုဏာတော်မှ နှစ်ဆ ချီးမြှင့် ပေးသနားတော်မူမည့်ပြင်၊ အသင်တို့အဖို့ အကြင်အလင်းရောင်ကို ဖန်ဆင်း၍ ပေးသနားတော်မူပေမည်။ အသင်တို့သည် ယင်းအလင်းရောင်ဖြင့် လျှောက်သွားကြပေမည်။ ထိုမှတစ်ပါး *အသင်တို့အား ခွင့်လွှတ်ချမ်းသာမှု ပေးသနားတော်မူပေမည်။* ၁

>> သို့ပါသော်လည်း ၎င်းတို့သည် မိမိတို့ စေတနာအလျောက် မိမိတို့ တီထွင်ခဲ့သော မိမိတို့၏ လမ်းစဉ်သစ်ကိုပင် မိမိတို့ကိုယ်တိုင် ထိန်းသိမ်းအပ်သည့် အားလျော်ညီစွာ ထိန်းသိမ်းနိုင်ခဲ့ကြသည်မရှိပေ။ အမှန်မှာ အလ္လာဟ်အရှင်မြတ်က ယင်းလမ်းစဉ်သစ်ကို ၎င်းတို့အပေါ်၌ သတ်မှတ်ပြဋ္ဌာန်းပေးတော် မူခဲ့သည်လည်း မဟုတ်ပေ။ ၎င်းတို့ကိုယ်တိုင် တီထွင်ခဲ့သောလမ်းစဉ်သာဖြစ်သည်။ သို့ရာတွင် ၎င်းတို့သည် မိမိတို့ ထွင်ခဲ့သော လမ်းစဉ်ကို မိမိတို့ကိုယ်တိုင်ပင် မလိုက်နာနိုင်ခဲ့ကြပေ။

ဥပမာ- ၎င်းတို့သည် ဥစ္စာပစ္စည်းရှာဖွေဆည်းပူးမှုကို စွန့်ခဲ့ကြ၏။ အိမ်ထောင်ပြုခြင်းကို စွန့်ခဲ့ကြ၏။ လောကီစည်းစိမ်များကို စွန့်ခဲ့ကြ၏။ တောထွက်ခဲ့ကြ၏။ သို့ရာတွင် လူ့သဘာဝနှင့် မဟပ်မိသော လမ်းစဉ်တစ်ရပ်ကို ၎င်းတို့သည် အဘယ်မျှအထိ ဒုက္ခခံကာ ဆုပ်ကိုင်ထားနိုင်ကြမည်နည်း။ မကြာမီပင် ၎င်းတို့သည် မိမိတို့ တီထွင်ခဲ့သောလမ်းစဉ်ကို မိမိတို့ ကိုယ်တိုင်ပင် ဖောက်ဖျက်လာခဲ့ကြ၏။ သွေဖည်လာခဲ့ကြ၏။ သာသနာရေးကို အကာအကွယ်ယူပြီး စည်းပွားရှာလာခဲ့ကြ၏။ ထို့အတွက်ကြောင့်ပင် အစ္စလာမ်သည် ယင်းလမ်းစဉ်ကို ခွင့်မပြုခဲ့ပေ။

(၁) ဤအာယတ်တော်သည် (ကိတာဗီ) ခေါ် အတိတ်ခေတ် ကျမ်းဂန်ရရှိခဲ့သောသူများအနက် တမန်တော်မြတ် မုဟမ္မဒ်(ဆွာလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်) အား အီမာန်သက်ဝင်ယုံကြည်လာခဲ့သော ပုဂ္ဂိုလ်များကို ရည်ညွှန်း မိန့်ကြားထားတော်မူသော အာယတ်တော်ဖြစ်သည်။ ဤယူဆချက်အရ ဤအာယတ်တော်တွင် လာရှိသော >>

စင်စစ်မှာကားအလ္လာဟ်အရှင်မြတ်သည် အလွန်တရာ ခွင့်လွှတ်ချမ်းသာပေးတော်မူသောအရှင်၊ အလွန်တရာ ကြင်နာသနားတော်မူသောအရှင်၊ ဖြစ်တော်မူ၏။

لِّئَلَّا يَعْلَمَ أَهْلُ الْكِتَٰبِ أَلَّا
يَقْدِرُونَ عَلَىٰ شَيْءٍ مِّن فَضْلِ
اللَّهِ وَأَنَّ الْفَضْلَ بِيَدِ اللَّهِ
يُؤْتِيهِ مَن يَشَاءُ ۚ وَاللَّهُ
ذُو الْفَضْلِ الْعَظِيمِ ﴿٢٩﴾

၂၉။ (ယင်းသို့ ချီးမြှင့် ပေးသနားတော်မူမည့်အကြောင်းမှာ) ရှေးကျမ်းကို ရရှိခဲ့သောသူတို့သည် ၎င်းတို့မှာ အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်အနက် အနည်းငယ်မျှကိုပင် (ရယူ)နိုင်ကြသည် မဟုတ်ကြောင်းကိုလည်းကောင်း၊ ကျေးဇူးတော်မှာ အလ္လာဟ်အရှင်မြတ်၏ လက်တော်တွင်း၌သာရှိ၍ ထိုအရှင်မြတ်သည် မိမိအလိုရှိတော်မူသောသူအား ယင်းကျေးဇူးတော်ကို ချီးမြှင့်ပေးသနားတော်မူကြောင်းကိုလည်းကောင်း၊ သိရှိအံ့သောငှာဖြစ်၏။ အမှန်စင်စစ်မှာမူကား အလ္လာဟ်အရှင်မြတ်သည် ကြီးကျယ်လှသော ကျေးဇူးတော်ကို ပိုင်ဆိုင်တော်မူသောအရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။ ၁

---

>> (وَآمِنُوا بِرَسُولِهِ) '၎င်းပြင် အသင်တို့သည် ထိုအရှင်မြတ်၏ တမန်တော်အား ယုံကြည်ကြကုန်' ဟူသော အမိန့်တော်၏အလိုသဘောမှာ အသင်တို့သည် ထိုအရှင်မြတ်၏ တမန်တော်မြတ်အား ယုံကြည်လျက်ရှိကြသည့် အတိုင်း၊ ယင်းယုံကြည်ချက်အပေါ်၌ အမြဲတစေ ရပ်တည်နေကြကုန်ဟူ၍ ဖြစ်သွားပေမည်။

ဆိုလိုသည်ကား - အတိတ်ခေတ်ကျမ်းဂန် ရရှိခဲ့ကြသော ပုဂ္ဂိုလ်များသည် အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ရိုသေခန့်ညားကာ ထိုအရှင်မြတ်၏ တမန်တော်မြတ် မုဟမ္မဒ်(ဆွာလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)အား ဆက်လက်ယုံကြည်ကြပါက တမန်တော်မြတ်၏လမ်းစဉ်ကို ဖဝါးခြေထပ် လိုက်နာကျင့်သုံးကြပါက၊ အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့အား ကုသိုလ်အကျိုး နှစ်ဆ ချီးမြှင့်တော်မူမည်။ အလင်းရောင်ကိုလည်း ချီးမြှင့်တော်မူမည်။ လွတ်ငြိမ်းချမ်းသာခွင့်ကိုလည်း ချီးမြှင့်တော်မူမည်ဖြစ်သည်။

(၁) ဆိုလိုသည်ကား ကိတာဗီများသည် အတိတ်ခေတ် တမန်တော်ကြီးများ၏ ထေရုပ္ပတ္တိများကို ကြားသိကြရသောအခါ ငါတို့သည် ထိုထိုသော တမန်တော်ကြီးများနှင့် ဝေးခဲ့ကြရလေခြင်း၊ ထိုထိုသော တမန်တော်ကြီးများအထံတွင် အမြဲတစေချဉ်းကပ်ခွင့် ရရှိသွားခဲ့ကြသော သူတော်စင်များ၏ အဆင့်အတန်းများကို ငါတို့သည် အသို့လျှင်ရရှိကြနိုင်အံ့နည်းဟု တွေးတောကာ ကြေကွဲဝမ်းနည်း နေခဲ့ကြလေသည်။ ယင်းသို့သောကိတာဗီများ သိထားအပ်သည်မှာ အလ္လာဟ်အရှင်မြတ်သည် တမန်တော်မြတ် မုဟမ္မဒ်(ဆွာလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)အား ပွင့်ပေါ်စေတော်မူပြီ။ ၎င်းတို့သည် တမန်တော်မြတ်ထံ ချဉ်းကပ်ကြပါက ၎င်းတို့လိုလားနေကြသော အဆင့်အတန်းများကို ပိုမို၍ပင် ရရှိနိုင်ကြပေသည်။ အလ္လာဟ်အရှင်မြတ်၏ကျေးဇူးတော်၏ တံခါးသည် မပိတ်ပင်သေးချေ။ ပွင့်လျက်ပင်၊ ကြည့် - အွတ်ဆ်မာနီ။

# စောဒကတင်သောမိန်းမ ကဏ္ဍ

سُوْرَةُ الْمُجَادَلَةِ

ဤကဏ္ဍသည် "မုဂျာဒိလဟ်" စောဒကတင်သော မိန်းမအကြောင်း ပါဝင်သော ကဏ္ဍမည်၏။ မဒီနာမြို့တွင် ကျရောက်ခဲ့၏။ ဤကဏ္ဍတွင် အာယတ်တော် (၂၂)ပါးနှင့် ရုကူအ်အပိုဒ် (၃)ပိုဒ် အသီးသီးပါရှိ၏။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ ○

ကရုဏာတော်ရှင်ဖြစ်တော်မူသော၊ အလွန်တရာ ကြင်နာသနားတော်မူသော အလ္လာဟ်အရှင်မြတ်၏ နာမံတော်ဖြင့် အစပြုပါ၏။

قَدْ سَمِعَ اللّٰهُ قَوْلَ الَّتِيْ تُجَادِلُكَ فِيْ زَوْجِهَا وَتَشْتَكِيْٓ اِلَى اللّٰهِ ۖ وَاللّٰهُ يَسْمَعُ تَحَاوُرَكُمَا ۚ اِنَّ اللّٰهَ سَمِيْعٌۢ بَصِيْرٌ ①

၁။ စင်စစ်အလ္လာဟ်အရှင်မြတ်သည် အကြင်မိန်းမ၏ ပြောဆိုမှုကို ကြားတော်မူခဲ့လေပြီ။ ထိုမိန်းမသည် မိမိလင်ယောကျ်ားနှင့် ပတ်သက်၍ အသင်နှင့် ငြင်းခုံ ပြောဆိုဆွေးနွေးလျက်ရှိသည့်ပြင် (မိမိ)မကျေနပ်ကြောင်း အလ္လာဟ်အရှင်မြတ်အထံတော်တွင် ထုတ်ဖော်လျှောက်ထား *တိုင်တန်းလျက်ရှိခဲ့၏။* [၁] ၎င်းပြင် အလ္လာဟ်အရှင်မြတ်သည် အသင်တို့နှစ်ဦး ပြောဆိုမေးဖြေခြင်းကိုလည်း ကြားတော်မူ၏။ စင်စစ်မလွဲ အလ္လာဟ်အရှင်မြတ်သည် အကြွင်းမဲ့ကြားတော်မူသောအရှင်၊ အကြွင်းမဲ့သိမြင်တော်မူသောအရှင်၊ ဖြစ်တော်မူပေသတည်း။ [၂]

---

(၁) အစ္စလာမ် မထွန်းကားမီ အရဗ်လူမျိုးတို့၏ ထုံးတမ်းစဉ်လာ ယူဆချက်မှာ လင်ယောကျ်ားက မိမိ၏ဇနီးအား အသင်မသည် ကျွန်ုပ်၏မိခင်ဖြစ်သည်၊ အသင်မသည် ကျွန်ုပ်အဖို့ ကျွန်ုပ်၏မိခင်၏ ကျောက်ကုန်းကဲ့သို့ ဖြစ်သည်ဟု ပြောဆိုလိုက်လျှင် ထိုအမျိုးသမီးသည် ထိုယောကျ်ားနှင့်ရာသက်ပန် ပြတ်စဲသွားလေသည်။ ထိုဇနီးမောင်နှံ ပြန်လည်ပေါင်းစပ်ရန် နည်းလမ်းလုံးဝမရှိတော့ပေ။ ဤကား အစ္စလာမ်မထွန်းကားမီ အရဗ်တို့၏ ထုံးတမ်းစဉ်လာယူဆချက်တစ်ရပ်ပင်၊ အမျိုးသမီးတို့အဖို့ နင့်နာဖွယ်ရာပင်။

တမန်တော်မြတ်လက်ထက်တော်တွင် အောက်စ်အိဗ်နုဆွာမိတ်အမည်ရှိ မွတ်စ်လင်မ်အမျိုးသားတစ်ဦးက မိမိ၏ဇနီး ခေါင်လဟ်ဗင်န်တိဆအ်လဗဟ်အား အရဗ်တို့၏ထုံးတမ်းစဉ်လာအတိုင်း ယင်းသို့ပြောဆိုလိုက်၏။

ထိုအခါ ခေါင်လဟ်သည် တမန်တော်မြတ်ထံတွင်ရောက်ရှိလာပြီး "ကျွန်မ၏ခင်ပွန်းသည် ကျွန်မ၏ ဥစ္စာပစ္စည်းများကို သုံးဖြုန်းလိုက်ပါပြီ၊ ကျွန်မ၏ပျိုရွယ်မှုကိုလည်း ဖျက်ဆီးလိုက်ပါပြီ၊ ➤➤

الَّذِيْنَ يُظٰهِرُوْنَ مِنْكُمْ مِّنْ نِّسَآئِهِمْ مَّا هُنَّ اُمَّهٰتِهِمْ ۗ اِنْ اُمَّهٰتُهُمْ اِلَّا الّٰٓـِٔىْ وَلَدْنَهُمْ ۗ وَاِنَّهُمْ لَيَقُوْلُوْنَ مُنْكَرًا مِّنَ الْقَوْلِ وَزُوْرًا ۗ وَاِنَّ اللّٰهَ لَعَفُوٌّ غَفُوْرٌ ②

၂။ အသင်တို့အနက် အကြင်သူတို့သည် မိမိတို့ဇနီးမိန်းမများအား ကျွန်ုပ်၏မိခင်ကဲ့သို့ပင် ကျွန်ုပ်အပေါ်၌ "ဟရာမ်" ဖြစ်သည်ဟု ပြောဆို "ဇိဟာရ်" ပြုလုပ်ကြလေ၏။ ထိုဇနီးမိန်းမများမှာ ၎င်းတို့၏မိခင်များ မဟုတ်ကြပေ။ ၎င်းတို့အား မွေးဖွားခဲ့ကြသောမိန်းမများသာလျှင် ၎င်းတို့၏မိခင်များ ဖြစ်ကြလေ၏။

သို့ရာတွင် ဧကန်မလွဲ ထို("ဇိဟာရ်" ပြုလုပ်ကြသော) ထိုသူတို့သည် စက်ဆုပ်ဖွယ်ရာ စကားကိုလည်းကောင်း၊ မုသားစကားကိုလည်းကောင်း၊ ပြောဆိုကြသည် အမှန်ပင်။ သို့တစေလည်း မလွဲဧကန် အလ္လာဟ်အရှင်မြတ်သည် အလွန်တရာခွင့်လွှတ်တော်မူသောအရှင်၊ အလွန်တရာ ချမ်းသာပေးတော်မူသောအရှင် ဖြစ်တော်မူ၏။

---

➤➤ ကျွန်မ၏ဝမ်းဗိုက်မှကလေး အမြောက်အမြားလည်း မွေးခဲ့ပါပြီ၊ ယခုမူ ကျွန်မအသက်အရွယ် ကြီးရင့်လာပြီ၊ သားသမီးလည်း မမွေးနိုင်တော့ပြီ။

ဤသို့သော အချိန်အရွယ်ကျမှ ကျွန်မ၏ခင်ပွန်းသည် ကျွန်မအား စိမ်းကားစွာ ပြတ်စဲလိုက်သည်၊ ကျွန်မ၌ ကလေးငယ်လူမမယ်တွေ ရှိနေပါသည်။ ကလေးတွေကို သူ့ထံအပ်လျှင် ပျက်စီးကုန်မည်၊ ကျွန်မထံ၌ထားလျှင် ငတ်ကုန်ပါမည်။

အို-အလ္လာဟ်အရှင်မြတ် ကျွန်တော်မျိုးမသည် အရှင်မြတ်ထံတော်၌ တိုင်ကြားအပ်ပါသည်" စသည်ဖြင့် ဝမ်းနည်းကြေကွဲစွာဖြင့် တိုင်ကြားလျှောက်ထားနေခဲ့ရှာ၏။

ထိုအချိန်မှာပင် ကောင်းကင်တမန် ဂျိဗ်ရီလ်သည် ဤအာယတ်တော်ကို ဦးထိပ်ရွက် ပန်ဆင်ကာ တမန်တော်မြတ်ထံသို့ ကြွရောက်လာခဲ့လေသည်။

(၂) အလ္လာဟ်အရှင်မြတ်သည် အားလုံးကြားတော်မူသည်၊ မြင်တော်မူသည်၊ သို့ဖြစ်ရာ တမန်တော်မြတ်နှင့် အဆိုပါအမျိုးသမီး (ခေါင်လဟ်) အပြန်အလှန် မေးဖြေ ပြောဆိုနေကြသည်များကို အသို့လျှင် ကြားတော်မမူဘဲ ရှိအံ့နည်း။ ထိုအရှင်မြတ်သည် ဒုက္ခရောက်နေရှာသော အမျိုးသမီး၏ တိုင်ကြားချက်ကို ကြားတော်မူသည်။ သို့ကြားတော်မူသည့်အလျောက် မမှန်ကန် ထုံးတမ်းစဉ်လာများမှ ရာသက်ပန်လွတ်မြောက်ရန် နည်းလမ်းကိုလည်း ညွှန်ပြတော်မူလိုက်သည်။ အဆိုပါနည်းလမ်းသည် ရှေ့လာမည့် အာယတ်တော်များတွင် ပါရှိသည်။

وَالَّذِينَ يُظٰهِرُونَ مِن نِّسَآئِهِمْ ثُمَّ يَعُودُونَ لِمَا قَالُوا فَتَحْرِيرُ رَقَبَةٍ مِّن قَبْلِ أَن يَتَمَآسَّا ۚ ذٰلِكُمْ تُوعَظُونَ بِهِۦ ۚ وَاللَّهُ بِمَا تَعْمَلُونَ خَبِيرٌ ③

၃။ စင်စစ်မှာကား အကြင်သူတို့သည် မိမိတို့၏ ဇနီးမိန်းမများနှင့် "ဇိဟာရ်" ပြုလုပ်ကြကုန်၏။ ထို့နောက် ၎င်းတို့သည် မိမိတို့ ပြောဆိုခဲ့သည်မှ ပြန်လည် ရုပ်သိမ်းလိုက်ကြ၏။

သို့ဖြစ်လျှင် ၎င်းတို့ဇနီး(မောင်နှံ)နှစ်ဦး ကိုယ်လက်နှီးနှော ထိတွေ့ခြင်းမပြုကြမီ ကျွန်တစ်ယောက်ကို လွတ်မြောက်စေရမည်။ ထိုသည်ဖြင့် အသင်တို့သည် ဆုံးမခြင်းကို ခံကြရပေသည်။ စင်စစ်သော်ကား အလ္လာဟ်အရှင်မြတ်သည် အသင်တို့ ကျင့်မူလျက်ရှိကြသည်တို့ကို အကြွင်းမဲ့ ကြားသိတော်မူသောအရှင်ဖြစ်တော်မူ၏။

فَمَن لَّمْ يَجِدْ فَصِيَامُ شَهْرَيْنِ مُتَتَابِعَيْنِ مِن قَبْلِ أَن يَتَمَآسَّا ۖ فَمَن لَّمْ يَسْتَطِعْ فَإِطْعَامُ سِتِّينَ مِسْكِينًا ۚ ذٰلِكَ لِتُؤْمِنُوا بِاللَّهِ وَرَسُولِهِۦ ۚ وَتِلْكَ حُدُودُ اللَّهِ

၄။ သို့ရာတွင် မည်သူမဆို (ကျွန်)မရခဲ့လျှင် ၎င်းတို့(ဇနီးမောင်နှံ)နှစ်ဦး ကိုယ်လက်နှီးနှောခြင်း မပြုကြမီ နှစ်လတိုင်တိုင် တစ်ဆက်တည်း "ဆွိယာမ်" ဥပုသ်သီလ ဆောက်တည်ရပေမည်။ သို့သော် မည်သူမဆို ("ဆွိယာမ်" ဥပုသ်သီလ ဆောက်တည်ခြင်း၌ာ) မတတ်စွမ်းနိုင်လျှင် သူဆင်းရဲ ခြောက်ဆယ်အား (၎င်းတို့မောင်နှံနှစ်ဦး ကိုယ်လက်နှီးနှောခြင်းမပြုကြမီ ထမင်းနှစ်နပ်) *ကျွေးမွေးရပေမည်။* [၁]

---

(၁) <u>ဇိုဟာရ်။</u>

ဟနဖီဂိုဏ်း၏ယူဆချက်အရ "ဇိဟာရ်"ဟူသည် ခင်ပွန်းယောကျ်ားက မိမိ၏ဇနီးအား မိခင်၊ နှမစသည်တို့၏ ရာသက်ပန် ဟရာမ်ဖြစ်သော(အကြောင်းမဲ့) လုံးဝ မကြည့်အပ်သော ကိုယ်အင်္ဂါအစိတ်အပိုင်းတစ်ခုခုနှင့် နှိုင်းယှဉ် ပြောဆိုခြင်းကိုဆိုသည်။

ဥပမာ- ယောကျ်ားက မိမိ၏ဇနီးအား ( اَنتِ عَلَىَّ كظهرِ اُمِّى ) "အသင်မသည် ကျွန်ုပ်အဖို့ ကျွန်ုပ်မိခင်၏ ကျောက်ကုန်းကဲ့သို့ဖြစ်သည်" ဟုဆိုခြင်း။ ကြည့်-အွတ်ဆ်မာနီ။ ထာနဝီ။

ဆိုလိုသည်ကား ယောကျ်ားတစ်ဦးက မိမိ၏ဇနီးသည်အား 'ဇိဟာရ်' ပြုလုပ်ရုံမျှဖြင့် (ဝါ) "အသင်မသည် ကျွန်ုပ်အဖို့ ကျွန်ုပ်၏ မိခင်၏ ကျောက်ကုန်းကဲ့သို့ဖြစ်သည်"ဟု ပြောဆိုရုံကာမျှဖြင့် ဇနီးသည် ယောကျ်ား၏ မိခင်ဖြစ်သွားသည် မဟုတ်ပေ။ ➢➢

وَلِلْكٰفِرِيْنَ عَذَابٌ اَلِيْمٌ ④

ထို(အမိန့်ပညတ်ကို ပြဋ္ဌာန်းတော်မူခြင်း)ကား အသင်တို့သည် အလ္လာဟ်အရှင်မြတ်အား လည်းကောင်း၊ ထိုအရှင်မြတ်၏ ရစူလ်တမန်တော်မြတ်အား လည်းကောင်း၊ သက်ဝင်ယုံကြည်ကြအံ့သောငှာ ဖြစ်ပေသည်။ စင်စစ်မှာမူကား ထိုသည်တို့မှာ အလ္လာဟ်အရှင်မြတ်၏ စည်းကမ်းချက်များပင်။ ၎င်းပြင် "ကာဖိရ်" သွေဖည် ငြင်းပယ်ကြကုန်သောသူတို့၌ နာကျင်ဖွယ်ဖြစ်သောပြစ်ဒဏ်သည် ရှိပေအံ့သတည်း။

---

➤➤ မိမိအား ဝမ်းဗိုက်တွင် လွယ်ပိုက်မွေးဖွားခဲ့သော မိခင်သည်သာလျှင် မိခင်ဖြစ်သည်။ သို့ဖြစ်ရာ ယောကျ်ားတစ်ဦးက မိမိ၏ဇနီးအား ယင်းသို့ ပြောဆိုရုံကာမျှဖြင့် အဆိုပါ ဇနီးသည် မိမိ၏ လင်ခင်ပွန်းနှင့် ရာသက်ပန် လင်ခန်းမယားခန်း အသို့လျှင် ပြတ်စဲသွားအံ့နည်း။

အမှန်မှာ 'ဇိဟာရ်' ပြုလုပ်သောသူများသည် စက်ဆုပ်ဖွယ်စကား၊ မုသားစကား ပြောဆိုခြင်းသာလျှင် ဖြစ်သည်။ သို့မပြောအပ် မဆိုအပ်သော စကားကို ပြောဆိုမိသောသူများသည် မိမိတို့၏အပြစ်ကို ပြေစေရန်အတွက် (ကဖ်ဖာရဟ်)- (Sin Offering Expiation) ဒဏ်ဆောင်ဖြေကြရမည်ဖြစ်သည်။

သို့အာပတ်ဖြေပြီးသည့်နောက်တွင်မှ မိမိတို့၏ ဇနီးများနှင့်ယခင်အတိုင်း ဥမကွဲသိုက်မပျက် နေထိုင်ကြရမည်။ ဤသည်ကို ထောက်ရှုခြင်းအားဖြင့် 'ဇိဟာရ်' ပြုလုပ်ခြင်းခံရသော အမျိုးသမီးတစ်ဦးသည် သက်ဆိုင်ရာ ခင်ပွန်း၏ဇနီးပင်ဖြစ်ကြောင်း၊ ဇိဟာရ်ပြုလုပ်ခြင်းဖြင့် 'တွလာက်' အထမမြောက်ကြောင်း၊ လင်ခန်း မယားခန်း ပြတ်စဲမသွားကြောင်း အတိတ်ခေတ် အရဗ်တို့၏ ထုံးတမ်းစဉ်လာ ထင်မြင်ယူဆချက်များ မမှန်ကန်ကြောင်း ကောင်းစွာ သိရှိနိုင်ပေသည်။

**'ဇိဟာရ်'၏ 'ကဖ်ဖာရဟ်'**

ဇိဟာရ်ပြုလုပ်မိသောသူများသည် ကဖ်ဖာရဟ် အာပတ်ဖြေသည့်အနေဖြင့် မိမိတို့၏ ဇနီးများနှင့် မထိတွေ့မီအလျှင်-

(၁) ကျေးကျွန်တစ်ယောက်ကို ကျေးကျွန်အဖြစ်မှ လွတ်မြောက်စေကြရမည်။

(၂) ကျေးကျွန်တစ်ယောက်ကို လွတ်မြောက်စေရန် မစွမ်းနိုင်လျှင် နှစ်လတိတိ 'ဆွိယာမ်' ဥပုသ်ဆောက်တည်ကြရမည်။

(၃) ဤသည်ကိုလည်း မပြုစွမ်းနိုင်ကြလျှင် ဆင်းရဲသား (၆၀) တို့အား ထမင်း (တစ်ရက်စာ နှစ်နပ်) ကျွေးကြရမည်။

ဤသည် အလ္လာဟ်အရှင်မြတ် သတ်မှတ်ထားတော်မူသည့် စည်းကမ်းချက် နယ်နိမိတ်များဖြစ်သည်။ မကျူးကျော်ရာ။

ဤအကြောင်းနှင့်စပ်လျဉ်း၍ အသေးစိတ်အကြောင်းများကို 'ဖစ်က်ဟ်' မဇ္ဈသတ်ကျမ်းကြီးများတွင် တွေ့ရှိနိုင်ပေသည်။

إِنَّ الَّذِينَ يُحَادُّونَ اللَّهَ وَرَسُولَهُ كُبِتُوا كَمَا كُبِتَ الَّذِينَ مِن قَبْلِهِمْ وَقَدْ أَنزَلْنَا آيَاتٍ بَيِّنَاتٍ وَلِلْكَافِرِينَ عَذَابٌ مُّهِينٌ ⑤

၅။ ဧကန်စင်စစ် အလ္လာဟ်အရှင်မြတ်အားလည်းကောင်း၊ ထိုအရှင်မြတ်၏ရစူလ်တမန်တော်မြတ်အားလည်းကောင်း၊ ကဏ္ဍက ပြုလုပ်ကြသောသူတို့ကား မိမိတို့အလျင်ရှိခဲ့ကြသော ရှေးသူဟောင်းတို့ ဂုဏ်ရည်သေးသိမ်စေခြင်း ခံခဲ့ကြရသည့်နည်းတူ ဂုဏ်ရည်သေးသိမ်စေခြင်းကို ခံကြရပေမည်။ အမှန်စင်စစ်သော်ကား ငါအရှင်မြတ်သည် ထင်ရှားလှစွာသော သက်သေလက္ခဏာတော်များကို ချပေးတော်မူခဲ့ပြီးဖြစ်၏။ ၎င်းပြင် "ကာဖိရ်" သွေဖည်ငြင်းပယ်သောသူတို့၌ ဂုဏ်ရည်ပျက်ပြားစေသော ပြစ်ဒဏ်သည် ရှိပေမည်။ [၁]

يَوْمَ يَبْعَثُهُمُ اللَّهُ جَمِيعًا فَيُنَبِّئُهُم بِمَا عَمِلُوا أَحْصَاهُ اللَّهُ وَنَسُوهُ وَاللَّهُ عَلَىٰ كُلِّ شَيْءٍ شَهِيدٌ ⑥

၆။ အကြင်နေ့တွင် အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့အားလုံးကို ရှင်ပြန်ထစေတော်မူပြီးနောက် ၎င်းတို့ကျင့်မူခဲ့သမျှတို့ကို ၎င်းတို့အား သိစေတော်မူပေမည်။ အလ္လာဟ်အရှင်မြတ်သည် ထိုအကျင့်အမူကို ရေတွက်မှတ်သား၍ ထားရှိတော်မူ၏။ သို့ရာတွင် ၎င်းတို့မှာမူကား ယင်းအကျင့်အမူကို မေ့ပျောက်ကြကုန်၏။ အမှန်သော်ကား အလ္လာဟ်အရှင်မြတ်သည် အရာခပ်သိမ်းတို့အပေါ်ဝယ်မျက်မြင်သက်သေဖြစ်တော်မူ၏။

---

(၁) ဆိုလိုသည်ကား- မွတ်စ်လင်မ်သည် မိမိ၏ဂုဏ်နာမ်နှင့်အညီ အမိန့်တော်ကိုနာခံသည်၊ အလ္လာဟ်အရှင်မြတ်သတ်မှတ်ထားတော်မူသည့် စည်းကမ်းချက် နယ်နိမိတ်များကို မကျူးကျော်ပေ။

ကာဖိရ်များမူကား - အလ္လာဟ်အရှင်မြတ် သတ်မှတ်ထားတော်မူသည့် စည်းကမ်းချက်နယ်နိမိတ်များကို ကျူးကျော်ကြပေသည်။ မိမိတို့၏စိတ်အလိုဆန္ဒအရ နယ်နိမိတ် သတ်မှတ်ကြပေသည်။ ထိုသို့သော ကာဖိရ်များအား လျစ်လျူပြုထားရမည်သာ၊ ၎င်းတို့အဖို့ ပြင်းထန်သော ကျိုးယုတ်ရှက်ရစေမည့် ပြစ်ဒဏ်သည် အသင့်ပင်ရှိပေသည်။ ယင်းသို့သော ကာဖိရ်များသည် အတိတ်ခေတ်များတွင်လည်း အရှက်တကွဲ အကျိုးနည်းဖြစ်ခဲ့ကြရပြီ၊ ယခုလည်း ဖြစ်လျက်ပင်။

အလ္လာဟ်အရှင်မြတ်၏ထင်ရှားသော သက်သေလက္ခဏာတော်များကို တွေ့မြင်ရပြီးသည့်နောက်၊ ထင်ရှားသောဒေသနာတော်များကို ကြားနာရပြီးသည့်နောက်သော်မှပင် မိမိတို့၏သွေဖည်မှုအပေါ်၌ ရပ်တည်နေခြင်း၊ အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်များကို မလေးစားခြင်းသည် တစ်နည်းအားဖြင့် ကျိုးယုတ်ရှက်ရဖြစ်စေမည့် ပြစ်ဒဏ်ကို လက်ယပ်ခေါ်နေခြင်းပင်။

أَلَمْ تَرَ أَنَّ ٱللَّهَ يَعْلَمُ مَا فِى ٱلسَّمَٰوَٰتِ وَمَا فِى ٱلْأَرْضِ ۖ مَا يَكُونُ مِن نَّجْوَىٰ ثَلَٰثَةٍ إِلَّا هُوَ رَابِعُهُمْ وَلَا خَمْسَةٍ إِلَّا هُوَ سَادِسُهُمْ وَلَآ أَدْنَىٰ مِن ذَٰلِكَ وَلَآ أَكْثَرَ إِلَّا هُوَ مَعَهُمْ أَيْنَ مَا كَانُوا۟ ۖ ثُمَّ يُنَبِّئُهُم بِمَا عَمِلُوا۟ يَوْمَ ٱلْقِيَٰمَةِ ۚ إِنَّ ٱللَّهَ بِكُلِّ شَىْءٍ عَلِيمٌ ﴿٧﴾

၇။ (အို-နဗီတမန်တော်၊) ကေန်မလွဲ အလ္လာဟ် အရှင်မြတ်သည် မိုးကောင်းကင်များ၌ရှိသည်တို့ကို လည်းကောင်း၊ ပထဝီမြေ၌ရှိသည်တို့ကိုလည်းကောင်း၊ သိရှိတော်မူကြောင်း အသင်သည် စဉ်းစားဆင်ခြင် သိမြင်ခဲ့ပြီး မဟုတ်ပါလော။ (လူ)သုံးဦး လျှို့ဝှက် တိုင်ပင်ကြသည် မဟုတ်ပေ။ သို့ရာတွင် ထိုအရှင်မြတ် သည် ၎င်းတို့အနက် စတုတ္ထ ဖြစ်တော်မူ၏။

ထိုနည်းတူစွာ (လူ)ငါးဦး (လျှို့ဝှက်တိုင်ပင် ကြသည်) မဟုတ်ပေ။ သို့ရာတွင် ထိုအရှင်မြတ်သည် ၎င်းတို့အနက် ဆဋ္ဌမ ဖြစ်တော်မူ၏။ ထို့ပြင် ထို (သုံးဦး)ထက်လျော့၍လည်းကောင်း၊ (ငါးဦး)ထက်ပို၍ လည်းကောင်း၊ (လျှို့ဝှက်တိုင်ပင်ကြသည်) မဟုတ် ပေ။ သို့ရာတွင် ထိုအရှင်မြတ်သည် ၎င်းတို့ မည်သည့် နေရာ၌ရှိနေကြသည်ဖြစ်စေ ၎င်းတို့နှင့်အတူ ရှိနေ တော်မူ၏။ [၁]

ထို့နောက် ထိုအရှင်မြတ်သည် "ကိယာမတ်" ရှင်ပြန်ထမည့်နေ့တွင် ၎င်းတို့အား ၎င်းတို့ ကျင့်မူ ခဲ့သည်တို့ကို သိစေတော်မူပေမည်။ စင်စစ်ကေန် အလ္လာဟ်အရှင်မြတ်သည် အရာခပ်သိမ်း တို့ကို အကြွင်းမဲ့သိတော်မူသော အရှင်မြတ်ပင် ဖြစ်တော် မူပေသတည်း။

---

(၁) ဆိုလိုသည်ကား- အလ္လာဟ်အရှင်မြတ်သည် လူသားတို့ ကျင့်မူ ဆည်းပူးကြသည်များကိုသာလျှင် သိရှိ တော်မူသည်မဟုတ်၊ မိုး၊မြေ နှင့်တကွ ဤလောကစာတ်ကြီးတစ်ခုလုံးတွင် ဖြစ်ပျက်သမျှ ကိစ္စအဝဝကို အကြွင်းမဲ့ ဉာဏ်အလုံးစုံကိုပင် သိရှိတော်မူသည်။ မည်သည့် အစည်းအဝေး၊ မည်သည့်တီးတိုး ပြောဆိုမှု၊ မည်သည့် လျှို့ဝှက် တိုင်ပင်ဆွေးနွေး ကြံစည်မှုကိုမဆို အလ္လာဟ်အရှင်မြတ်သည် သိတော်မူသည်သာဖြစ်သည်။

ဥပမာ- လူသုံးဦး လျှို့ဝှက်စွာဖြင့် တံခါးပိတ်ဆွေးနွေးတိုင်ပင်အံ့၊ စတုတ္ထမရှိ မထင်ရာ၊ အလ္လာဟ် အရှင်မြတ်သည် စတုတ္ထဖြစ်တော်မူသည်၊ ဆွေးနွေးတိုင်ပင်သမျှကို သိရှိတော်မူသည်။ လူငါးဦး လျှို့ဝှက်စွာ ဆွေးနွေးတိုင်ပင်အံ့၊ ဆဋ္ဌမမရှိ မထင်ရာ၊ အလ္လာဟ်အရှင်မြတ်သည် ဆဋ္ဌမဖြစ်တော်မူသည်၊ အားလုံး ➢➢

أَلَمْ تَرَ إِلَى الَّذِينَ نُهُوا عَنِ النَّجْوَىٰ ثُمَّ يَعُودُونَ لِمَا نُهُوا عَنْهُ وَيَتَنَاجَوْنَ بِالْإِثْمِ وَالْعُدْوَانِ وَمَعْصِيَتِ الرَّسُولِ وَإِذَا جَاءُوكَ حَيَّوْكَ بِمَا لَمْ يُحَيِّكَ بِهِ اللَّهُ وَيَقُولُونَ فِي أَنفُسِهِمْ لَوْلَا يُعَذِّبُنَا اللَّهُ بِمَا

၈။ (အို–နဗီတမန်တော်၊) အသင်သည် အကြင်သူတို့(၏အခြေအနေ)ကို ဆင်ခြင်သုံးသပ် မြင်ခဲ့သည် မဟုတ်လော။ ထိုသူတို့သည် လျှို့ဝှက်တိုင်ပင်မှု မပြုရန် တားမြစ်ခြင်းကို ခံခဲ့ရလေ၏။ ထို့နောက် ၎င်းတို့သည် မိမိတို့ တားမြစ်ခြင်းခံခဲ့ကြရသော အမှု ကိစ္စကိုပင် ထပ်မံ၍ ပြုလုပ်ကြကုန်၏။

စင်စစ် ထိုသူတို့ကား ပြစ်မှုကျူးလွန်ရန်နှင့် စပ်လျဉ်း၍လည်းကောင်း၊ ကျူးကျော်ရန်နှင့် စပ်လျဉ်း၍လည်းကောင်း၊ ရစူလ်တမန်တော်မြတ်၏အမိန့်ကို သွေဖည်ဆန့်ကျင်မှု ပြုလုပ်ရန်နှင့်စပ်လျဉ်း၍လည်းကောင်း၊ *လျှို့ဝှက်တိုင်ပင်ကြကုန်၏။* [၁] ၎င်းပြင် ထိုသူတို့သည် အသင့်ထံသို့ လာကြသောအခါ အလ္လာဟ်အရှင်မြတ်က အသင့်အား မေတ္တာပို့တော်မမူခဲ့သော နည်းမျိုးဖြင့် မေတ္တာပို့သ နှုတ်ခွန်းဆက်ကြပေသည်။

---

➤➤ သိတော်မူသည်။ ဆိုလိုသည်ကား သုံးဦးတိုင်ပင်သည်ဖြစ်စေ၊ ငါးဦးတိုင်ပင်သည်ဖြစ်စေ၊ ထို့ထက်နည်းသည် ဖြစ်စေ၊ များသည်ဖြစ်စေ၊ မည်မျှပင်တိုင်ပင်သည်ဖြစ်စေ၊ မည်သည့်ဌာနတွင် တိုင်ပင်သည်ဖြစ်စေ၊ မည်သို့ တိုင်ပင်သည် ဖြစ်စေ၊ အလ္လာဟ်အရှင်မြတ်သည် အားလုံး သိတော်မူသည်သာ ဖြစ်ပေသည်။

(၁) တမန်တော်မြတ် တရားဟောကြားတော်မူသည့် အခမ်းအနားများတွင် မုနာဖစ်က်များသည် ဝင်ရောက်ထိုင်ကာ တီးတိုးတိုင်ပင်လေ့ရှိခဲ့ကြ၏။ အခမ်းအနားသို့ လာရောက်သောသူများအား ပြက်ချော်သမှု ပြုလေ့ရှိခဲ့ကြ၏။ အပြစ်ရှာလေ့ရှိခဲ့ကြ၏။ အချင်းချင်း နှစ်ကိုယ်ကြား တီးတိုးပြောဆိုလေ့ရှိခဲ့ကြ၏။ မျက်ရိပ်မျက်ကဲ ပြုလေ့ရှိခဲ့ကြ၏။

ယင်းသို့သော အပြုအမူများကြောင့် အကာယ်ရိုးသားဖြောင့်မတ်သော မွတ်စ်လင်မ်များသည် စိတ်ဒုက္ခ ဖြစ်ခဲ့ကြရ၏။ ထို့ပြင်တစ်ဝ ယင်းမုနာဖစ်က်များသည် တမန်တော်မြတ်၏အဆုံးအမသြဝါဒများကို ကြားကြရသော အခါ၊ "ဤခဲယဉ်းသော အမှုကို ကျွန်ုပ်တို့အသို့လျှင် ပြုစွမ်းနိုင်ကြပါမည်နည်း" ဟူ၍ပင် မရိုမသေ မလေးမစား မခန့်မညား ပြောဆိုလေ့ရှိခဲ့ကြ၏။

ဤသို့ဖြင့် မုနာဖစ်က်များသည် တီးတိုးတိုင်ပင်၍–

(၁) ပြစ်မှုကို ကျူးလွန်နေခဲ့ကြ၏။

(၂) မွတ်စ်လင်မ်တို့အား ကျူးကျော်စော်ကားနေခဲ့ကြ၏။

(၃) တမန်တော်မြတ်အား သွေဖည်ဆန့်ကျင်နေခဲ့ကြ၏။

ယင်းသို့မပြုမူကြရန် ၎င်းတို့အား ယခင်က တားမြစ်ထားတော်မူပြီးဖြစ်၏။ ကြည့်–ကုရ်အာန်ကျမ်းမြတ် (၄း၁၁၄)။ သို့ပါသော်လည်း ယင်းမုနာဖစ်က်များသည် "ခွေးမြီးကောက် ကျည်တောက်စွပ်" ဆိုသကဲ့သို့ပင် ➤➤

نَقُولُ ۚ حَسْبُهُمْ جَهَنَّمُ ۚ يَصْلَوْنَهَا ۚ فَبِئْسَ الْمَصِيرُ ⑧

ထိုမှတစ်ပါး ၎င်းတို့သည် မိမိတို့ စိတ်ထဲတွင် (တွေးတော) ပြောဆိုကြကုန်၏။ "အလ္လာဟ်အရှင်မြတ်သည် ကျွန်ုပ်တို့၏ပြောဆိုမှုကြောင့် ကျွန်ုပ်တို့အား အဘယ်ကြောင့် ပြစ်ဒဏ်ပေးတော်မမူပါသနည်း။" ၎င်းတို့၌ အကြင် "ဂျဟန္နမ်" ငရဲသည် လုံလောက်ပေသည်။ ၎င်းတို့သည် ယင်း "ဂျဟန္နမ်" ငရဲသို့ ဝင်ရောက် ကြရပေမည်။ စင်စစ်သော်ကား ယင်း "ဂျဟန္နမ်"ငရဲမှာ လွန်စွာဆိုးရွားလှသော ပြန်လည်ရာ စခန်း ဖြစ်ပေသည်။ ၁

---

➤➤ မိမိတို့၏အကျင့်အမူများကို မစွန့်လွှတ်ခဲ့ကြပေ၊ ပြုမူမြဲတိုင်း ပြုမူလျက်ပင် ရှိနေခဲ့ကြ၏။ ထိုအခါ ၎င်းတို့နှင့် ပတ်သက်၍ ဤအာယတ်တော်များ ထပ်မံကျရောက်လာခဲ့ပေသည်။

(၁) ဆိုလိုသည်ကား အလ္လာဟ်အရှင်မြတ်သည် တမန်တော်မြတ်အပေါ်သို့ အခြား တမန်တော်များနှင့်အတူ (وَسَلَٰمٌ عَلَى الْمُرْسَلِينَ) "တမန်တော်များအပေါ်သို့ ကောင်းချီးချမ်းသာ မင်္ဂလာအဖြာဖြာ သက်ရောက်ပါစေ"။ (وَسَلَٰمٌ عَلَىٰ عِبَادِهِ الَّذِينَ اصْطَفَىٰ) 'ထိုအရှင်မြတ်၏ ရွေးချယ်မြှောက်စားတော်မူခြင်း ခံကြရသော ကျွန်များအပေါ်၌ ကောင်းချီးချမ်းသာ မင်္ဂလာအဖြာဖြာ သက်ရောက်ပါစေ"ဟူ၍ မေတ္တာပို့သတော်မူ၏။

မုအ်မင်န်များအား (السلام عليك أيها النبى و رحمة الله و بركاته) "အို-တမန်တော်၊ အသင့်အပေါ်၌ ကောင်းချီးချမ်းသာ မင်္ဂလာအဖြာဖြာ သက်ရောက်ပါစေ၊ ထို့ပြင် အလ္လာဟ်အရှင်မြတ်၏ ကရုဏာတော်နှင့် မင်္ဂလာအဖြာဖြာလည်း သက်ရောက်ပါစေ" ဟူ၍ မေတ္တာပို့သစေတော်မူ၏။

သို့ပါသော်လည်း အချို့ရေဝတီများသည် တမန်တော်မြတ်ထံ လာကြသည့်အခါ (السلام عليك) "အသင့်အပေါ်၌ ကောင်းချီးချမ်းသာအဖြာဖြာ သက်ရောက်ပါစေ"ဟု မေတ္တာပို့သရမည့်အစား လျှာအနည်းငယ်လိပ်၍ (السام عليك) (အတ်စွာမု အလိုင်က) "အသင့်အပေါ်၌ သေခြင်းတရား သက်ရောက်ပါစေ"ဟူ၍ပင် ကျိန်ဆဲခဲ့ကြလေသည်။

ထို့နောက် ယင်းရေဝတီများက "အကယ်၍ ဤပုဂ္ဂိုလ်သည် အကယ်စင်စစ် အလ္လာဟ်အရှင်မြတ်၏ တမန်တော်ဖြစ်ပါမူ၊ ငါတို့သည်လည်း ထိုအရှင်မြတ်၏ တမန်တော်အား ယင်းသို့ ကျိန်ဆဲပြောဆို နေကြသည် ဖြစ်ရာ၊ ထိုအရှင်မြတ်သည် ငါတို့အား အဘယ်ကြောင့် ပြစ်ဒဏ်ခတ်တော်မမူပါသနည်း" ဟူ၍ပင် ကြက်တွန့်တက်ခဲ့ကြသေး၏။

၎င်းတို့အဖို့ ဂျဟန္နမ်ငရဲသည် လုံလောက်ပေသည်။ ယင်းဂျဟန္နမ်သို့ သင်တို့လားကြရမည်။ အဆိုပါ "ဂျဟန္နမ်မှာ လွန်စွာ ဆိုးရွားလှပါတကား"။

يَٰٓأَيُّهَا ٱلَّذِينَ ءَامَنُوٓا۟ إِذَا
تَنَٰجَيْتُمْ فَلَا تَتَنَٰجَوْا۟ بِٱلْإِثْمِ
وَٱلْعُدْوَٰنِ وَمَعْصِيَتِ ٱلرَّسُولِ
وَتَنَٰجَوْا۟ بِٱلْبِرِّ وَٱلتَّقْوَىٰ ۖ
وَٱتَّقُوا۟ ٱللَّهَ ٱلَّذِىٓ إِلَيْهِ
تُحْشَرُونَ ⑨

၉။ အို-"မုအ်မင်န်" သက်ဝင်ယုံကြည်သူအပေါင်းတို့၊ အသင်တို့သည် လျှို့ဝှက်တိုင်ပင်ကြသောအခါ ပြစ်မှုကျူးလွန်ခြင်းနှင့် စပ်လျဉ်း၍လည်းကောင်း၊ ကျူးကျော်ခြင်းနှင့် စပ်လျဉ်း၍လည်းကောင်း၊ ရစူလ်တမန်တော်မြတ်၏အမိန့်ကို သွေဖည်ဆန့်ကျင်ဘက်ပြုခြင်းနှင့် စပ်လျဉ်း၍လည်းကောင်း၊ လျှို့ဝှက်တိုင်ပင်ခြင်း မပြုကြကုန်လင့်။ သို့ရာတွင် အသင်တို့သည် ကောင်းမှုပြုလုပ်ရန်လည်းကောင်း၊ ပြစ်မှုဒုစရိုက်များမှ ရှောင်ကြဉ်ရန်လည်းကောင်း၊ လျှို့ဝှက်တိုင်ပင်ကြလေကုန်။ ထိုမှတစ်ပါး အသင်တို့သည် အကြင်အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ကြလေကုန်၊ ထိုအရှင်မြတ်အထံတော်သို့ပင် အသင်တို့သည် ပြန်လည်စုရုံးကြရပေမည်။

إِنَّمَا ٱلنَّجْوَىٰ مِنَ ٱلشَّيْطَٰنِ
لِيَحْزُنَ ٱلَّذِينَ ءَامَنُوا۟ وَلَيْسَ
بِضَآرِّهِمْ شَيْـًٔا إِلَّا بِإِذْنِ ٱللَّهِ ۚ
وَعَلَى ٱللَّهِ فَلْيَتَوَكَّلِ
ٱلْمُؤْمِنُونَ ⑩

၁၀။ (မကောင်းမှုကျူးလွန်ရန်) လျှို့ဝှက်တိုင်ပင်မှုကား "ရှိုင်တွာန်"မိစ္ဆာကောင်၏ထံမှ မုအ်မင်န်သက်ဝင်ယုံကြည်သူတို့အား စိတ်ဒုက္ခ ဖြစ်စေရန်သာဖြစ်၏။ အမှန်စင်စစ်သော်ကား အလ္လာဟ်အရှင်မြတ်၏အလိုတော်မရှိဘဲ ယင်း"ရှိုင်တွာန်"မိစ္ဆာကောင်သည် မုအ်မင်န် သက်ဝင်ယုံကြည်သူတို့အား အနည်းငယ်စိုးစဉ်းမျှပင် ကျိုးယုတ်စေနိုင်သူမဟုတ်ပြီ။ သို့ဖြစ်ပေရာ မုအ်မင်န် သက်ဝင်ယုံကြည်သူတို့ကား အလ္လာဟ်အရှင်မြတ်အပေါ်၌သာလျှင် ယုံပုံလွှဲအပ် အားထားကြရာသတည်း။

يَٰٓأَيُّهَا ٱلَّذِينَ ءَامَنُوٓا۟ إِذَا قِيلَ
لَكُمْ تَفَسَّحُوا۟ فِى ٱلْمَجَٰلِسِ
فَٱفْسَحُوا۟ يَفْسَحِ ٱللَّهُ لَكُمْ ۖ

၁၁။ အို-မုအ်မင်န် သက်ဝင်ယုံကြည်သူအပေါင်း တို့၊ အသင်တို့သည် "နေရာချဲ့ပေးကြလေကုန်" ဟု ပြောဆိုခြင်းကို ခံကြရလေသောအခါ နေရာချဲ၍ ပေးကြလေကုန်။ အလ္လာဟ်အရှင်မြတ်သည် အသင်တို့အဖို့ နေရာချဲ့ပေးတော်မူမည်။

وَإِذَا قِيلَ انْشُزُوا فَانْشُزُوا يَرْفَعِ اللَّهُ الَّذِينَ آمَنُوا مِنْكُمْ وَالَّذِينَ أُوتُوا الْعِلْمَ دَرَجَاتٍ وَاللَّهُ بِمَا تَعْمَلُونَ خَبِيرٌ ﴿١١﴾

ထိုနည်းတူစွာ အသင်တို့သည် "မတ်တတ် ထကြလေကုန်" ဟု ပြောဆိုခြင်းကိုခံကြရလေသော အခါ မတ်တတ်ထကြလေကုန်။ အရှင်မြတ်သည် အသင်တို့အနက် မုအ်မင်န် သက်ဝင်ယုံကြည်သူတို့ အားလည်းကောင်း၊ အသိပညာ ချီးမြှင့်ပေးသနား တော်မူခြင်း ခံခဲ့ကြရသောသူတို့အားလည်းကောင်း၊ အဆင့်အတန်းများစွာ မြှင့်တင်ပေးတော်မူပေမည်၊ [၁]

စင်စစ်သော်ကား အလ္လာဟ်အရှင်မြတ်သည် အသင်တို့ ကျင့်မူသမျှတို့ကို အကြွင်းမဲ့ ကြားသိတော် မူသော အရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

يَا أَيُّهَا الَّذِينَ آمَنُوا إِذَا نَاجَيْتُمُ الرَّسُولَ فَقَدِّمُوا بَيْنَ يَدَيْ نَجْوَاكُمْ صَدَقَةً ذَٰلِكَ خَيْرٌ لَكُمْ وَأَطْهَرُ فَإِنْ لَمْ تَجِدُوا فَإِنَّ اللَّهَ

၁၂။ အို-မုအ်မင်န် သက်ဝင်ယုံကြည်သူ အပေါင်း တို့၊ အသင်တို့သည် ရစူလ်တမန်တော်မြတ်နှင့် လျှို့ ဝှက်ပြောဆိုတိုင်ပင်ကြသောအခါ မိမိတို့ လျှို့ဝှက် ပြောဆိုတိုင်ပင်မှု မပြုကြမီ အလှူဒါန တစ်စုံတစ်ရာ ကို ကြိုတင်ပေးနှင့်ကြလေကုန်။ ဤသည် အသင်တို့ အဖို့ အကောင်းဆုံးလည်းဖြစ်၏။ အသန့်ရှင်းဆုံး လည်းဖြစ်၏။

---

(၁) **မှတ်ချက်။**

တမန်တော်မြတ် တရားဟောကြားတော်မူသည့် အခမ်းအနားတွင် လူတိုင်းလူတိုင်းသည် တမန်တော်မြတ်၏ အနီး၌ပင်ထိုင်၍ တရားနာလို၏။ ထို့အတွက် တစ်ခါတစ်ရံ နေရာအကျပ်အတည်း ဖြစ်ခဲ့ရ၏။ တစ်ခါတစ်ရံ အဂ္ဂသာဝက၊ မဟာသာဝကကြီးများသည်ပင် တမန်တော်မြတ်အနီး၌ နေရာမရ ဖြစ်ခဲ့ကြရ၏။ ထို့အတွက်ကြောင့် ဤစည်းကမ်းချက်များကို သတ်မှတ်ပြဋ္ဌာန်း ပေးတော်မူခြင်းဖြစ်သည်။ သို့မှသာလျှင် ပုဂ္ဂိုလ်အသီးသီးတို့သည် ကိုယ့်အဆင့်အတန်းနှင့်ကိုယ် အကျိုးခံစားနိုင်ကြပေမည်။ စီမံကွပ်ကဲ အုပ်ချုပ်မှုသည်လည်း စနစ်တကျ ရှိနေပေမည်။

ယခုသော်လည်း အစည်းအဝေးပွဲများတွင် သက်ဆိုင်ရာ သဘာပတိ၏ စီမံကွပ်ကဲ ထိန်းသိမ်းမှုနှင့် စပ်လျဉ်းသည့် အမိန့်များကို ကြည်ဖြူစွာ နာခံကြရမည်သာဖြစ်သည်။ အစ္စလာမ်သည် အရေးကိစ္စအဝဝတွင် စည်းစနစ်ရှိမှုကို အထူးလိုလားသည်။ စည်းစနစ်မဲ့မှု၊ စည်းမဲ့ကမ်းမဲ့ဖြစ်မှု၊ ဖရိုဖရဲဖြစ်မှုများကို အလျှင်း မလိုလားပေ။ အစ္စလာမ်၏ အမိန့်ပညတ် အရပ်ရပ်တွင် ဤသည့်စည်းစနစ်ရှိမှုကို အထင်သား အမြင်သား၊ အထင်အရှား တွေ့ရပေသည်။

غَفُورٌ رَّحِيمٌ ⑫

သို့ရာတွင် အကယ်၍ အသင်တို့သည် (အလှူဒါနပြုရန် ဝတ္ထုပစ္စည်းတစ်စုံတစ်ရာကို) မရခဲ့ကြလျှင် ကေန်အမှန် အလ္လာဟ်အရှင်မြတ်သည် အလွန်တရာ ခွင့်လွှတ်တော်မူသောအရှင်၊ အလွန်တရာသနားကရုဏာပြုတော်မူသောအရှင်မြတ် ဖြစ်တော်မူ၏။ ၁

---

(၁) ဆိုလိုသည်ကား မုနာဖစ်က်များသည် မိမိတို့ ကြီးကျယ်ကြောင်း၊ ပေါက်ရောက်ကြောင်းကို လူများအား ပြသလိုသည့်အတွက် တမန်တော်မြတ်ထံချဉ်းကပ်၍ တီးတိုးစွာ ပြောဆိုလေ့ရှိခဲ့ကြ၏။

အချို့မွတ်စ်လင်မ်များသည်လည်း တမန်တော်မြတ်ထံ ချဉ်းကပ်၍ အရေးမကြီးလှသောစကားများကို အချိန်ကြာမြင့်စွာ တီးတိုးပြောဆိုနေလေ့ရှိခဲ့ကြ၏။ ထို့အတွက် အခြားပုဂ္ဂိုလ်များမှာ တမန်တော်မြတ်ထံမှ အကျိုးခံစားခွင့် မရရှိဘဲနေခဲ့ကြရ၏။

တစ်ခါတစ်ရံ တမန်တော်မြတ်သည် တစ်ကိုယ်တည်း လွတ်လပ်စွာနေတော်မူလိုသော်လည်း ထိုထိုသော ပုဂ္ဂိုလ်များကြောင့် ထိုသည့်အခွင့်အရေးကို တမန်တော်မြတ် ခံစားတော်မမူခဲ့ရပေ။

သို့တစေလည်း တမန်တော်မြတ်သည် ယဉ်ကျေးသိမ်မွေ့တော်မူလှသည့်အတွက်၊ တဖက်သားအား အလွန်ထောက်ထားညှာတာတော်မူ လှသည့်အတွက် ဖွင့်ဟ၍ မည်သူ့ကိုမျှ ပိတ်ပင်တော် မမူရက်ရှာခဲ့ပေ။

ထိုအခါ ဤအာယတ်တော် ကျရောက်လာခဲ့ပေသည်။

ဆိုလိုသည်ကား တတ်ကုံနိုင်သူတစ်ဦးသည် တမန်တော်မြတ်ထံချဉ်းကပ်၍ တီးတိုးစကားပြောကြားလိုပါက ယင်းသို့ စကားမပြောမီအလျင်၊ တစ်စုံတစ်ရာ အလှူဒါန ပေးကမ်းစွန့်ကြဲရမည်ဖြစ်သည်။ ထိုသို့ စွန့်ကြဲလှူဒါန်းပြီးနောက်တွင်မှ တမန်တော်မြတ်ထံချဉ်းကပ်၍ တီးတိုးစကား ပြောကြားရမည်။

ဤသို့ပြုလုပ်ခြင်းတွင် အကျိုးအမျိုးမျိုးရှိသည်။

(၁) ယင်းသို့ စွန့်ကြဲလှူဒါန်းခြင်းဖြင့်၊ ဆင်းရဲသားတို့အား ကူညီထောက်ပံ့ရာလည်း ရောက်သည်။

(၂) ယင်းသို့ စွန့်ကြဲလှူဒါန်းခြင်းဖြင့်၊ သက်ဆိုင်ရာ အလှူရှင်၏ စိတ်စေတနာလည်း ဖြူစင်သွားသည်။

(၃) ယင်းသို့ စွန့်ကြဲလှူဒါန်းခြင်းဖြင့်၊ မွတ်စ်လင်မ်အစစ်နှင့် အယောင်ဆောင်များကိုလည်း ခွဲခြားသိရှိရပေမည်။

(၄) ယင်းသို့ စွန့်ကြဲလှူဒါန်းရသည့်အတွက်၊ တမန်တော်မြတ်ထံ ချဉ်းကပ်၍ တီးတိုးစကား ပြောဆိုသူများ၏ အရည်အတွက်လည်း လျော့နည်းသွားပေမည်။

(၅) သို့တီးတိုးစကား ပြောကြားသူများ၏ အရေအတွက် လျော့နည်းသွားသည်နှင့်အမျှ တမန်တော်မြတ်၌ စိတ်၏ချမ်းသာမှု၊ ကိုယ်၏ချမ်းသာမှုများလည်း ပို၍ရှိလာပေမည်။

(အကယ်၍ ပုဂ္ဂိုလ်တစ်ဦးသည် တမန်တော်မြတ်ထံချဉ်းကပ်၍ တီးတိုးစကား ပြောကြားလို၏၊ စွန့်ကြဲလှူဒါန်းရန်လည်း မိမိ၌တစ်စုံတစ်ရာမရှိ။ သို့ဖြစ်လျှင် ထိုသို့သောပုဂ္ဂိုလ်၌ စွန့်ကြဲလှူဒါန်းရန် တာဝန်မရှိပေ)

ဤအာယတ်တော် ကျရောက်လာသည့်အခါ မုနာဖစ်က်များသည် စေးနဲတွန့်တိုလှကြသည့်အတွက် တမန်တော်မြတ်ထံချဉ်းကပ်၍ တီးတိုးစကားပြောကြားသည့် အလေ့အထကို စွန့်လွှတ်ကြလေသည်။

ကျန်မွတ်စ်လင်မ်များသည်လည်း တမန်တော်မြတ်ထံချဉ်းကပ်၍ အကြောင်းမဲ့ တီးတိုးပြောဆိုမှုကို ➤➤

ءَاَشْفَقْتُمْ اَنْ تُقَدِّمُوْا بَيْنَ
يَدَيْ نَجْوٰىكُمْ صَدَقٰتٍ ؕ
فَاِذْ لَمْ تَفْعَلُوْا وَتَابَ اللّٰهُ
عَلَيْكُمْ فَاَقِيْمُوا الصَّلٰوةَ وَاٰتُوا
الزَّكٰوةَ وَاَطِيْعُوا اللّٰهَ وَرَسُوْلَهٗ ؕ
وَاللّٰهُ خَبِيْرٌۢ بِمَا تَعْمَلُوْنَ ﴿١٣﴾

၁၃။ အသင်တို့သည် မိမိတို့လျှို့ဝှက် ပြောဆိုမှု
မပြုမီ အလှူဒါနများပေးနှင့်ရန် ကြောက်ရွံ့ခဲ့ကြလေ
ပြီလော။ သို့ဖြစ်လျှင် အသင်တို့သည် (ယင်းသို့
အလှူဒါနပေးခြင်းကို) မပြုလုပ်နိုင်ခဲ့ကြသည်ဖြစ်ရာ၊
အလ္လာဟ်အရှင်မြတ်သည်လည်း အသင်တို့ဘက်သို့
ကရုဏာတော်နှင့် ပြန်လှည့်တော်မူသည် ဖြစ်ပေရာ၊
အသင်တို့သည် "ဆွလာတ်"ဝတ်ပြုမှုကို ဆောက်တည်
ကြလေကုန်။ ၎င်းပြင် အသင်တို့သည် "ဇကာတ်"
ပေးဆောင်ကြလေကုန်။ ထိုမှတစ်ပါး အသင်တို့သည်
အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်ကိုလည်းကောင်း၊
ထိုအရှင်မြတ်၏ ရစူလ်တမန်တော်မြတ်၏အမိန့်ကို
လည်းကောင်း၊ လိုက်နာကြလေကုန်။ [၁] အမှန်စင်စစ်
သော်ကား အလ္လာဟ်အရှင်မြတ်သည် အသင်တို့ ကျင့်မူ
လျက် ရှိကြသည်တို့ကို အကြွင်းမဲ့ကြားသိတော်မူသော
အရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

---

➤➤ အလ္လာဟ်အရှင်မြတ် နှစ်သက်တော်မမူကြောင်း သိရှိသွားကြသောအခါ အထူးဆင်ခြင်သွားခဲ့ကြပေသည်။ ဤစည်းကမ်းချက်ကို သတ်မှတ်ထားတော်မူခြင်း၏ ရည်ရွယ်ချက်မှာလည်း တမန်တော်မြတ်ထံ ချဉ်းကပ်၍ အကြောင်းမဲ့ တီးတိုးစကားပြောဆိုသူများ၏ အရေအတွက် လျော့နည်းသွားစေရန်ပင် ဖြစ်သည်။

အဆိုပါရည်ရွယ်ချက် အောင်မြင်လာသည့်အခါ အလ္လာဟ်အရှင်မြတ်သည် အဆိုပါ စည်းကမ်းချက်ကို ပြန်လည်ရုပ်သိမ်း ထားတော်မူလိုက်သည်။

ဤသည့်သဘောကို ရှေ့အာယတ်တော်တွင် မိန့်ဆိုထားတော်မူသည်။ ကြည့်-အွတ်ဆ်မာနီ။

(၁) ဆိုလိုသည်ကား တမန်တော်မြတ်ထံချဉ်းကပ်၍ တီးတိုးစကား ပြောကြားလိုသူတစ်ဦးသည် ယင်းသို့စကား မပြောမီအလျင် စွန့်ကြဲလှူဒါန်းရမည်ဟူ၍ ယခင်အာယတ်တော်တွင် စည်းကမ်းချက်တစ်ရပ် သတ်မှတ်ထားတော်မူသည်။ ယင်းစည်းကမ်းချက်သည် အခြေအနေအရ ယာယီမျှသာဖြစ်သည်။

ယင်းသို့စည်းကမ်းသတ်မှတ်ချက်၏ ရည်ရွယ်ချက်မှာလည်း အောင်မြင်လာပြီဖြစ်ရာ အလ္လာဟ်အရှင်မြတ်သည် အဆိုပါစည်းကမ်းချက်ကို ပြန်လည်ရုပ်သိမ်းထားတော်မူလိုက်လေပြီ။

သို့ဖြစ်ပေရာ မွတ်စ်လင်မ်များသည် ဘယ်သောအခါမျှ ပြန်လည်ရုပ်သိမ်းတော်မူမည်မဟုတ်သော အမိန့်တော်များကို ဥပမာ- ဆွလာတ်ဝတ်ပြုမှု၊ ဇကာတ်ပေးဆောင်မှု စသည်များကို စိတ်ရောကိုယ်ပါ အမြဲတစေ လိုက်နာကျင့်သုံးကာ နေကြရပေမည်။

ဤသို့လိုက်နာကျင့်သုံးခြင်းဖြင့် စိတ်နှလုံးများသည် အမြဲတစေ ဖြူစင်လျက် ရှိကြပေမည်။

၁၄။ (အို-နဗီတမန်တော်၊) အသင်သည် အကြင် အမျိုးသားတို့အား အဆွေခင်ပွန်း ပြုလုပ်ခဲ့ကြသော သူတို့(၏ အခြေအနေကို) သုံးသပ်ဆင်ခြင် တွေ့မြင် ခဲ့လေပြီမဟုတ်လော။ ထိုအမျိုးသားတို့ အပေါ်ဝယ် အလ္လာဟ်အရှင်မြတ်သည် အမျက်ထွက်တော်မူခဲ့၏။ ထိုအမျိုးသားတို့ကား *အသင်တို့အနက်မှလည်းမဟုတ် ကြပေ။ ၎င်းတို့အနက်မှလည်း မဟုတ်ကြချေ၊* [၁] ထို အမျိုးသားတို့မှာ သိလျက်နှင့်ပင် မုသားနှင့်စပ်လျဉ်း၍ ကျိန်တွယ်ကြကုန်၏။

أَلَمْ تَرَ إِلَى الَّذِينَ تَوَلَّوْا قَوْمًا غَضِبَ اللَّهُ عَلَيْهِم مَّا هُم مِّنكُمْ وَلَا مِنْهُمْ وَيَحْلِفُونَ عَلَى الْكَذِبِ وَهُمْ يَعْلَمُونَ ﴿١٤﴾

၁၅။ အလ္လာဟ်အရှင်မြတ်သည် ပြင်းထန်စွာသော ပြစ်ဒဏ်ကို ထိုအမျိုးသားတို့အဖို့ အဆင့်သင့်ပြုလုပ်၍ ထားရှိတော်မူ၏။ ဧကန်မလွဲ ၎င်းတို့ကျင့်မူလျက် ရှိကြသည်မှာ လွန်စွာ ဆိုးယုတ်လှပေသည်။

أَعَدَّ اللَّهُ لَهُمْ عَذَابًا شَدِيدًا ۖ إِنَّهُمْ سَاءَ مَا كَانُوا يَعْمَلُونَ ﴿١٥﴾

၁၆။ ၎င်းတို့သည် မိမိတို့၏ ကျိန်ဆိုချက်များကို အကွယ်အကာ ပြုလုပ်ခဲ့ကြပြီးလျှင် (သူတစ်ပါးတို့ အားလည်း) အလ္လာဟ်အရှင်မြတ်၏ လမ်းတော်မှ ပိတ် ပင်တားဆီးခဲ့ကြကုန်၏။ သို့ဖြစ်ပေရာ ၎င်းတို့၌ ဂုဏ်သရေပျက်ပြားစေသောပြစ်ဒဏ်သည် ရှိချေမည်။

اتَّخَذُوا أَيْمَانَهُمْ جُنَّةً فَصَدُّوا عَن سَبِيلِ اللَّهِ فَلَهُمْ عَذَابٌ مُّهِينٌ ﴿١٦﴾

၁၇။ အလ္လာဟ်အရှင်မြတ်နှင့်ဆန့်ကျင်၍ ထိုသူတို့ ၏ပစ္စည်းဥစ္စာတို့သည် လည်းကောင်း၊ ထိုသူတို့၏ သားသမီးတို့သည်လည်းကောင်း၊ ထိုသူတို့အား လုံးဝ အကျိုးပေးမည်မဟုတ်ပေ။ ထိုသူတို့ကား ငရဲသားများ ပင်ဖြစ်ကြကုန်၏။ ၎င်းတို့မှာ ယင်းငရဲ၌ ထာဝစဉ် နေထိုင်ကြရမည့်သူများပင် ဖြစ်ကြကုန်၏။ [၂]

لَّن تُغْنِيَ عَنْهُمْ أَمْوَالُهُمْ وَلَا أَوْلَادُهُم مِّنَ اللَّهِ شَيْئًا ۚ أُولَٰئِكَ أَصْحَابُ النَّارِ ۖ هُمْ فِيهَا خَالِدُونَ ﴿١٧﴾

---

① ဆိုလိုသည်ကား မုနာဖစ်က်များသည် အသင်မွတ်စ်လင်မ်တို့တွင် လုံးဝအပြည့်အဝ ပါဝင်ကြသည်လည်း မဟုတ်ပေ။ အဘယ်ကြောင့်ဆိုသော် ၎င်းတို့၏စိတ်နှလုံးများသည် ကာဖိရ်များပင် ဖြစ်ကြပေသည်။ မုနာဖစ်က် များသည် ရေဝတီများ၊ ကာဖိရ်များတွင် လုံးဝအပြည့်အဝ ပါဝင်ကြသည်လည်း မဟုတ်ပေ။ အဘယ်ကြောင့် ➤➤

يَوْمَ يَبْعَثُهُمُ اللّٰهُ جَمِيعًا
فَيَحْلِفُونَ لَهُ كَمَا يَحْلِفُونَ لَكُمْ
وَيَحْسَبُونَ أَنَّهُمْ عَلَىٰ شَيْءٍ ۚ أَلَا
إِنَّهُمْ هُمُ الْكَاذِبُونَ ﴿١٨﴾

၁၈။ အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့အားလုံးတို့ကို ရှင်ပြန်ထစေတော်မူအံ့သောနေ့တွင် ၎င်းတို့သည် ထိုအရှင်မြတ်၏ရှေ့မှောက်၌လည်း အသင်တို့ရှေ့ဝယ် ကျိန်ဆိုဘိသကဲ့သို့ပင် ကျိန်ဆိုကြပေမည်။ ထိုမှတစ်ပါး ၎င်းတို့သည် စင်စစ်အမှန် မိမိတို့မှာ (ကောင်းသော) အခြေအနေ၌ ရှိနေကြသည်ဟု ထင်မှတ်ကြပေမည်။ ကောင်းစွာ မှတ်ယူကြလေကုန်။ စင်စစ်မလွဲ ၎င်းတို့မှာ မုသာဝါဒီများပင် ဖြစ်ကြကုန်၏။ [၁]

اسْتَحْوَذَ عَلَيْهِمُ الشَّيْطَانُ
فَأَنْسَاهُمْ ذِكْرَ اللّٰهِ ۚ أُولَٰئِكَ
حِزْبُ الشَّيْطَانِ ۚ أَلَا إِنَّ حِزْبَ
الشَّيْطَانِ هُمُ الْخَاسِرُونَ ﴿١٩﴾

၁၉။ 'ရှိုင်တွာန်' မိစ္ဆာကောင်သည် ၎င်းတို့အား နိုင်နင်း ကြီးစိုးလျက် ရှိပေရာ ၎င်းတို့အား ယင်း 'ရှိုင်တွာန်' မိစ္ဆာကောင်သည် အလ္လာဟ်အရှင်မြတ်အား သတိရခြင်းကို မေ့ပျောက်စေခဲ့၏။ ထိုသူတို့ကား 'ရှိုင်တွာန်' မိစ္ဆာကောင်၏အုပ်စုပင် ဖြစ်ကြကုန်၏။ ကောင်းစွာ မှတ်ယူကြလေကုန်။ စင်စစ်မလွဲ 'ရှိုင်တွာန်' မိစ္ဆာကောင်၏အုပ်စုကား ဆုံးရှုံးအံ့သောသူများပင် ဖြစ်ကြကုန်သတည်း။

---

➤➤ ဆိုသော် ၎င်းတို့သည် အခြေအနေအရ နှုတ်မှ မိမိတို့ကိုယ်ကို မွတ်စ်လင်မ်များ ဖြစ်ကြပါသည်ဟူ၍ ဖွင့်ဟ ပြောဆိုနေခဲ့ကြပေသည်။ ကြည့်-ကုရ်အာန် (၄း၁၄၃)။

② မုနာဖစ်ကျ်များသည် မိမိတို့ကိုယ်ကို ကာကွယ်နိုင်ရန်အတွက် မိမိတို့၏ ကျိန်ဆိုမှုများကို ဒိုင်းကြီးများ ပြုလုပ်ထားခဲ့ကြ၏။ ယင်းသို့ ပြုလုပ်ထားခြင်းမှာ မွတ်စ်လင်မ်များသည် ၎င်းတို့အား မွတ်စ်လင်မ်များဟု ထင်မှတ်ကာ ၎င်းတို့၏ အသက်စည်းစိမ်နှင့်ဥစ္စာပစ္စည်းများကို အနှောင့်အယှက် မပြုရန်ပင်ဖြစ်သည်။

ထို့ပြင်တစ်ဝ ယင်းမုနာဖစ်ကျ်များသည် သူတစ်ပါးတို့အားလည်း အလ္လာဟ်အရှင်မြတ်၏ လမ်းတော်မှ အမျိုးမျိုး သွေးဆောင်ဖြားယောင်း ပိတ်ပင်တားဆီးခဲ့ကြ၏။ သို့ဖြစ်ရာ ၎င်းတို့သည် အကျိုးယုတ် ရှက်စေရမည့် ပြစ်ဒဏ်ကို လှလှကြီးခံကြရပေမည်။ သို့ပြစ်ဒဏ်ခံကြသည့်အခါ ၎င်းတို့အမျိုးမျိုး လိမ်လည်ကျိန်ဆို ကာကွယ်ထားခဲ့ကြသော ၎င်းတို့၏ဥစ္စာပစ္စည်းနှင့် သားသမီးများသည်ပင် ၎င်းတို့အား မည်သို့မျှ ကာကွယ်ပေးနိုင်ကြမည် မဟုတ်ပေ။ ခဲလေသမျှ သဲရေကျဖြစ်ကာ ငရဲမီးတွင် အမြဲထာဝစဉ် လားခြင်းကြီးမက လားနေကြရမည်သာတည်း။

① ဆိုလိုသည်ကား မုနာဖစ်ကျ်များသည် မွတ်စ်လင်မ်တို့အား အမျိုးမျိုးလိမ်လည်ကျိန်ဆိုကာ မိမိတို့ကိုယ်ကို ကာကွယ်နေခဲ့ကြ၏။ မိမိတို့ကိုယ်ကို မိမိတို့ အလွန်လိမ္မာပါးနပ်ကြသည်ဟု ထင်မှတ်နေခဲ့ကြ၏။ ဤသည့် အကျင့်ဆိုးသည် ၎င်းတို့တွင် ကိယာမတ်နေ့၌ပင်ကျန်ရှိနေဦးမည်။ အလ္လာဟ်အရှင်မြတ်၏ရှေ့တော်မှောက်၌ပင် ➤➤

إِنَّ الَّذِينَ يُحَادُّونَ اللَّهَ وَرَسُولَهُ أُولَٰئِكَ فِي الْأَذَلِّينَ ﴿٢٠﴾

၂၀။ မချွတ်ဧကန် အလ္လာဟ်အရှင်မြတ်အားလည်းကောင်း၊ ထိုအရှင်မြတ်၏ ရစူလ်တမန်တော်မြတ်အားလည်းကောင်း၊ ပမာမခန့် ပြုလုပ်ကြကုန်သောသူတို့မှာ အယုတ်ညံ့ဆုံးသောသူတို့တွင် အပါအဝင်ဖြစ်ကြပေမည်။ [၁]

كَتَبَ اللَّهُ لَأَغْلِبَنَّ أَنَا وَرُسُلِي ۚ إِنَّ اللَّهَ قَوِيٌّ عَزِيزٌ ﴿٢١﴾

၂၁။ ငါအရှင်မြတ်သည်လည်းကောင်း၊ ငါအရှင်မြတ်၏ ရစူလ်တမန်တော်များသည် လည်းကောင်း၊ ဧကန်မလွဲ လွှမ်းမိုးတော်မူမည်ဟူ၍ အလ္လာဟ်အရှင်မြတ်သည် ရေးသားတော်မူပြီးဖြစ်၏။ စင်စစ်ဧကန် အလ္လာဟ်အရှင်မြတ်သည် လွန်စွာ စွမ်းအားနှင့်ပြည့်စုံတော်မူသောအရှင်၊ လွန်စွာ နိုင်နင်းလွှမ်းမိုးတော်မူသောအရှင်၊ ဖြစ်တော်မူ၏။

➤➤ လိမ်လည်ကျိန်ဆို၍ လွတ်မြောက်ရန် ကြိုးစားကြပေဦးမည်။ သို့ရာတွင် ကိယာမတ်နေ့၌ လိမ်လည်ပြောဆိုလေ့ ရှိသောနှုတ်များသည် တံဆိပ်နှိပ်ခံရပြီး၊ ကျန်ကိုယ်ခန္ဓာအစိတ်အပိုင်းအားလုံးက ဟုတ်တိုင်းမှန်ရာ သက်သေ ထွက်ဆိုကြမည်ဖြစ်ရာ ၎င်းတို့၏ကြိုးစားမှုသည် အဘယ်မှာလျှင် အောင်မြင်အံ့နည်း။

ကြည့်-ကုရ်အာန်(၃၆း၆၅)။

(၁) မုနာဖစ်က်များ နှစ်ဘဝစလုံးတွင် ယင်းသို့ပျက်စီးခြင်းကြီးမလှ ပျက်စီးရခြင်းမှာ၊ ဆုံးရှုံးခြင်းကြီးမလှ ဆုံးရှုံးရခြင်းမှာ၊ ၎င်းတို့သည် အလ္လာဟ်အရှင်မြတ်နှင့် တမန်တော်မြတ်အား သွေဖည်ဆန့်ကျင်ခဲ့ကြခြင်း၊ ပမာမခန့် ပြုခဲ့ကြခြင်းတို့ကြောင့်ပင်ဖြစ်သည်။ အလ္လာဟ်အရှင်မြတ်နှင့် တမန်တော်မြတ်အား သွေဖည်ဆန့်ကျင်သူများထက် ယုတ်ညံ့သူ အဘယ်သူရှိနိုင်အံ့နည်း။ အယုတ်ညံ့ဆုံးသော သူများသည် အယုတ်ညံ့ဆုံးသော ပြစ်ဒဏ်ကို ခံကြရမည်မှာ သဘာဝပင်၊ ဤကား အလ္လာဟ်အရှင်မြတ်၏ နိယာမတရားပင်။

အလ္လာဟ်အရှင်မြတ်သည် အမိန့်တော် သွေဖည်ဆန့်ကျင်သူများအဖို့ ယုတ်ညံ့မှုပြစ်ဒဏ်ကို သတ်မှတ်ပြဋ္ဌာန်းတော်မူသည့်အလား၊ အမိန့်တော်နာခံသော ပုဂ္ဂိုလ်များအဖို့ မြင့်မြတ်သောဂုဏ်အင်ဒြပ်ကိုလည်း သတ်မှတ်ပြဋ္ဌာန်းတော်မူသည်။ သို့ပြဋ္ဌာန်းထားတော်မူသည့်အလျောက် အမိန့်တော်နာခံကြကုန်သော တမန်တော်များ၊ ထိုတမန်တော်များ၏လမ်းစဉ်ကို ဖဝါးခြေထပ် လိုက်နာကျင့်မူကြကုန်သော သူမှန်သူမြတ်တို့သည် အောင်နိုင်ကြသည်သာ ဖြစ်ပေသည်။ ဤသည့်သဘောသည် ကုရ်အာန်ကျမ်းမြတ်တွင် အကြိမ်ကြိမ် ပါရှိခဲ့ပေပြီ။

ကြည့်-ကုရ်အာန် (၅း၅၆။ ၄၀း၅၁)။

لَا تَجِدُ قَوْمًا يُّؤْمِنُوْنَ بِاللّٰهِ وَالْيَوْمِ الْاٰخِرِ يُوَآدُّوْنَ مَنْ حَآدَّ اللّٰهَ وَرَسُوْلَهٗ وَلَوْ كَانُوْٓا اٰبَآءَهُمْ اَوْ اَبْنَآءَهُمْ اَوْ اِخْوَانَهُمْ اَوْ عَشِيْرَتَهُمْ ؕ اُولٰٓئِكَ كَتَبَ فِيْ قُلُوْبِهِمُ الْاِيْمَانَ وَاَيَّدَهُمْ بِرُوْحٍ مِّنْهُ ؕ وَيُدْخِلُهُمْ جَنّٰتٍ تَجْرِيْ مِنْ تَحْتِهَا الْاَنْهٰرُ خٰلِدِيْنَ فِيْهَا ؕ رَضِيَ اللّٰهُ عَنْهُمْ وَرَضُوْا عَنْهُ ؕ اُولٰٓئِكَ حِزْبُ اللّٰهِ ؕ اَلَآ اِنَّ حِزْبَ اللّٰهِ هُمُ الْمُفْلِحُوْنَ ۲۲

၂၂။ (အို–နဗီတမန်တော်၊) အလ္လာဟ်အရှင်မြတ်အားလည်းကောင်း၊ နောက်ဆုံးနေ့ကိုလည်းကောင်း၊ သက်ဝင်ယုံကြည်ကြကုန်သောအမျိုးသားတို့သည် အလ္လာဟ်အရှင်မြတ်အားလည်းကောင်း၊ ထိုအရှင်မြတ်၏ ရစူလ်တမန်တော်မြတ်အားလည်းကောင်း၊ ပမာမခန့် ပြုလုပ်သူတို့ကို ထိုသို့ ပမာမခန့်ပြုကြသူတို့မှာ ၎င်းတို့၏ ဖခင်များပင် ဖြစ်ကြသည်ဖြစ်စေ၊ ၎င်းတို့၏သားများပင် ဖြစ်ကြသည်ဖြစ်စေ၊ ၎င်းတို့၏ညီအစ်ကိုများပင် ဖြစ်ကြသည်ဖြစ်စေ၊ ၎င်းတို့၏ဆွေမျိုးသားချင်းများပင် ဖြစ်ကြသည်ဖြစ်စေ၊ ချစ်မြတ်နိုးကြသည်ဟူ၍ကား အသင် တွေ့ရှိရမည် မဟုတ်ပေ။

ထိုသူတို့ကား အကြင်သူများပင်၊ ထိုအရှင်မြတ်သည် ၎င်းတို့၏စိတ်နှလုံးများတွင် 'အီမာန်' သက်ဝင်ယုံကြည်မှုကို ရေးမှတ်တော်မူခဲ့၏။ ထို့ပြင် ၎င်းတို့အား မိမိအထံတော်မှ ရက်ရောမှုဖြင့် အားအင်ဖြည့်ပေးတော်မူခဲ့၏။ ထို့ပြင် ၎င်းတို့အား ထိုအရှင်မြတ်သည် အကြင်ဥယျာဉ်များသို့ ဝင်ရောက်စေတော်မူပေမည်။

ယင်းဥယျာဉ်များ၏အောက်မှ ချောင်းများသည် စီးတွေလျက် ရှိကြပေမည်။ ၎င်းတို့သည် ထိုဥယျာဉ်များ၌ အစဉ်နေထိုင်ကြပေမည်။ ထိုအရှင်မြတ်သည် ၎င်းတို့အပေါ်ဝယ် ကျေနပ်တော်မူပေမည်။ ၎င်းတို့သည်လည်း ထိုအရှင်မြတ်အပေါ်ဝယ် ကျေနပ်ကြပေမည်။ [၁]

---

(၁) **အလ္လာဟ့်အုပ်စု**

အလ္လာဟ်အရှင်မြတ်အား ယုံကြည်မြတ်နိုးကြကုန်သော၊ တစ်ရက်ပြန်လည်ရှင်ထ၍ ကျိုးပြစ်ခံစံကြရမည်ကို နှစ်နှစ်ကာကာ ယုံကြည်ကြကုန်သော မုအ်မင်န်များသည် မိမိတို့နှင့် ယုံကြည်ချက်ချင်းမတူသော၊ လမ်းစဉ်ချင်းမတူသော အလ္လာဟ်အရှင်မြတ်နှင့် ထိုအရှင်မြတ်၏ တမန်တော်မြတ်အား သွေဖည် ▶▶

ထိုသူတို့သည် အလ္လာဟ်အရှင်မြတ်၏ အုပ်စုပင် ဖြစ်ကြကုန်၏။ ကောင်းစွာ မှတ်ယူကြလေကုန်။ စေန်မလွဲ အလ္လာဟ်အရှင်မြတ်၏ အုပ်စုသည်သာလျှင် အောင်မြင်မည့်သူများဖြစ်ကြကုန်သတည်း။

---

>> ဆန့်ကျင်နေကြသောသူများအား ယင်းတို့သည် မိမိတို့၏ အလွန်ရင်းချာသော သွေးရင်း၊ သားရင်း၊ ဆွေမျိုးရင်းများ ဖြစ်နေကြလင့်ကစား အသို့လျှင် နှစ်ကိုယ့်တစိတ် ချစ်ကြည်မြတ်နိုးနိုင်ကြအံ့နည်း။

ဝါဒလမ်းစဉ်တစ်ရပ်ကို နှစ်နှစ်ကာကာ ယုံကြည်လက်ခံ ကျင့်သုံးသူတစ်ဦးသည် မိမိယုံကြည်လက်ခံ ကျင့်သုံးနေသည့် ဝါဒလမ်းစဉ်ကို သွေဖည်ဆန့်ကျင်နေသူများအား အသို့လျှင် မဟာမိတ်ပြုနိုင်အံ့နည်း။ အလ္လာဟ်အရှင်မြတ်သည် ယင်းသို့ ယုံကြည်မြတ်နိုးကြကုန်သော မုအ်မင်န်တို့၏ နှလုံးသားတွင် (အီမာန်) တည်းဟူသော ယုံကြည်မှုကို သံမှိုနှက်ထားဘိအလား စွဲမြဲစေတော်မူသည်။

ထို့ပြင်တစ်ဝ ၎င်းတို့၏နှလုံးသားကို ရှင်သန်စေသည်ထက် ရှင်သန်စေတော်မူရန်အလို့ငှာ အလင်းရောင်ခြည်တစ်မျိုးကိုလည်း ချီးမြှင့်တော်မူသည်။ ကြည့်-ကုရ်အာန် (၃၉း၂၂)။ သို့တည်းမဟုတ် အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့အား ဤပစ္စက္ခတွင် ကောင်းကင်တမန် ဂျိဗ်ရီလ်ဖြင့် ကူညီထိန်းသိမ်းစောင်မတော်မူသည်။ နောင်တမလွန်ဘဝတွင်လည်း ဂျန္နတ်ဥယျာဉ်မြေ၌ ထာဝစဉ်စံစားစေတော် မူပေဦးမည်။

အလ္လာဟ်အရှင်မြတ်သည် ယင်းသို့သော မုအ်မင်န်များအား ကျေနပ်တော်မူသည်။ ၎င်းတို့ကလည်း ထိုအရှင်မြတ်အား ကျေနပ်ကြပေသည်။ ယင်းတို့ကား 'အလ္လာဟ့်အုပ်စုပင်' ပင်။ အလ္လာဟ်အုပ်စုသည် အောင်မြင်ခြင်းသည်သာတည်း။

# ပြည်နှင်ဒဏ်ကဏ္ဍ

سُورَةُ الحَشر

ဤကဏ္ဍသည် 'အလ်ဟရှ်ရ်' ပြည်နှင်ဒဏ် ကဏ္ဍမည်၏။ မဒီနာမြို့၌ ကျရောက်ခဲ့၏။
ဤကဏ္ဍတွင် အာယတ်တော် (၂၄)ပါးနှင့် ရကူအ်အပိုဒ် (၃)ပိုဒ် အသီးသီးပါရှိ၏။

بِسْمِ اللهِ الرَّحْمٰنِ الرَّحِيْمِ

ကရုဏာတော်ရှင် ဖြစ်တော်မူသော၊ အလွန်တရာ သနားကြင်နာ ညှာတာတော်မူသော၊ အလ္လာဟ်အရှင်မြတ်၏ နာမံတော်ဖြင့် အစပြုပါ၏။

سَبَّحَ لِلّٰهِ مَا فِي السَّمٰوٰتِ وَمَا فِي الْاَرْضِ ۚ وَهُوَ الْعَزِيْزُ الْحَكِيْمُ ①

၁။ မိုးကောင်းကင်များ၌ ရှိသမျှတို့သည်လည်းကောင်း၊ ပထဝီမြေဝယ်ရှိသမျှတို့သည်လည်းကောင်း၊ အလ္လာဟ်အရှင်မြတ် စင်ကြယ် သန့်ရှင်းတော်မူကြောင်း မြွက်ဆိုကြကုန်၏။ စင်စစ်သော်ကား ထိုအရှင်မြတ်သည် လွန်စွာ နိုင်နင်းလွှမ်းမိုးတော်မူသောအရှင်၊ နူးညံ့သိမ်မွေ့သော ဆင်ခြင်တုံတရားနှင့် ပြည့်စုံတော်မူသော အရှင်၊ ဖြစ်တော်မူ၏။

هُوَ الَّذِيْٓ اَخْرَجَ الَّذِيْنَ كَفَرُوْا مِنْ اَهْلِ الْكِتٰبِ مِنْ دِيَارِهِمْ لِاَوَّلِ الْحَشْرِ ۗ مَا ظَنَنْتُمْ اَنْ يَّخْرُجُوْا وَظَنُّوْٓا اَنَّهُمْ مَّانِعَتُهُمْ حُصُوْنُهُمْ مِّنَ اللهِ فَاَتٰىهُمُ اللهُ مِنْ حَيْثُ لَمْ يَحْتَسِبُوْا

၂။ ထိုအရှင်မြတ်သည်ပင် ရှေးကျမ်းဂန်ရရှိသူတို့ အနက် သွေဖည်ငြင်းပယ်ခဲ့ကြသော သူတို့အား ပထမ အကြိမ် စုရုံးကြစဉ်အခါ၌ပင် ၎င်းတို့၏နေအိမ်များမှ နှင်ထုတ်တော်မူခဲ့သောအရှင် ဖြစ်တော်မူ၏။ [၁] အသင်တို့သည် ၎င်းတို့ ထွက်သွားကြလိမ့်မည်ဟူ၍ပင် ထင်မြင်ခဲ့ကြသည်မဟုတ်ပေ။ ၎င်းတို့ကိုယ်တိုင်ကလည်း မိမိတို့အား မိမိတို့၏ခံတပ်များသည် အလ္လာဟ်အရှင်မြတ်(၏ပြစ်ဒဏ်)မှ ကွယ်ကာ စောင့်ရှောက်ကြလိမ့်မည်ဟူ၍ပင် ထင်မြင်နေခဲ့ကြကုန်၏။

---

(၁) အလ္လာဟ်အရှင်မြတ်သည် အတိုင်းအဆမရှိ ကြီးကဲသော တန်ခိုးတော်ရှင်၊ ဉာဏ်တော်ရှင် ဖြစ်တော်မူသည်။ ထို့အတွက်ကြောင့်ပင် မိုး၊ မြေနှင့်တကွ ဤလောကဓာတ်ကြီးအတွင်းရှိ သက်ရှိ သက်မဲ့ အားလုံးတို့သည် ထိုအရှင်မြတ်အား ကိုယ့်နည်းကိုယ့်ဟန်ဖြင့် ဂုဏ်တော်မွမ်းလျက် ရှိကြကုန်၏။ ➢➢

➤➤ ထိုအရှင်မြတ်သည်ပင် အတိတ်ခေတ် ကျမ်းဂန်ရရှိသူများအနက် မိမိတို့၏ခံတပ်များကို အထင်ကြီးကာ သွေဖည်ဆန့်ကျင်ခဲ့ကြသောသူများ (ဝါ) ဗနီနသွီရ် မျိုးနွယ်အား ပြည်နှင်ဒဏ်ပေးတော်မူခဲ့ ပေသည်။

ဤကား ထိုအရှင်မြတ်၏ တန်ခိုးတော်ကြီးကဲမှု၏ အကျိုးဆက်တစ်ရပ်ပင်။

**ဗနီနသွီရ်အား ပြည်နှင်ဒဏ်ပေးတော်မူသည့်အကြောင်း။**

တမန်တော်မြတ် မုဟမ္မဒ် (ဆွာလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် မက္ကာမြို့တော်မှ မဒီနာမြို့တော်သို့ ရွှေ့ပြောင်း ကြွရောက်လာပြီးသည့်နောက် ရေဝတီများနှင့် မဟာမိတ်စာချုပ် ချုပ်ဆိုတော်မူခဲ့၏။ ရေဝတီများတွင် ဗနီနသွီရ်မျိုးနွယ်စုလည်း အပါအဝင်ဖြစ်ခဲ့၏။ ဤမျိုးနွယ်စုသည် မဟာမိတ်စာချုပ် ချုပ်ဆိုရာတွင်လည်း အပါအဝင် ဖြစ်ခဲ့၏။

ဗနီနသွီရ်မျိုးနွယ်သည် မဒီနာမြို့နှင့် နှစ်မိုင်ခန့်အကွာတွင် နေထိုင်လျက်ရှိခဲ့၏။ တစ်ကြိမ်သော် တမန်တော်မြတ်သည် အသက်ဖိုး လျော်ကြေးကိစ္စတစ်ခုနှင့် ၎င်းတို့ထံ ကြွသွားတော်မူခဲ့၏။

အဆိုပါ အသက်ဖိုးလျော်ကြေးကိစ္စ ဖြစ်ပေါ်ခဲ့ရသည့်အကြောင်းမှာ အုမရ်အိဗ်နုအုမိုင်ယတ်သွမ်ရီ၏ လက်ချက်ဖြင့် လူနှစ်ယောက် သေဆုံးသွားခဲ့ရ၏။ ယင်းကိစ္စနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာ သားချင်းတို့အား အသက်ဖိုးလျော်ကြေး ပေးရမည်ဖြစ်၏။ အဆိုပါလျော်ကြေးကိစ္စနှင့်စပ်လျဉ်း၍ တမန်တော်မြတ်သည် ဗနီနသွီရ် မျိုးနွယ်ထံသို့ ကြွသွားတော်မူခဲ့၏။

ယင်းသို့ ကြွသွားတော်မူခြင်း၏ ရည်ရွယ်ချက်မှာ ဗနီနသွီရ်မျိုးနွယ်သည်လည်း အဆိုပါလျော်ကြေး ကိစ္စတွင် စေတနာအလျောက် ပါဝင်လှူဒါန်းလိုပါက ပါဝင်လှူဒါန်းနိုင်ရန်ပင် ဖြစ်၏။

ဗနီနသွီရ်မျိုးနွယ်ဝင်များသည် တမန်တော်မြတ် ကြွလာတော်မူသည့် ရည်ရွယ်ချက်ကို သိရှိသွားကြ သောအခါ တမန်တော်မြတ်အား သီးသန့်နေရာတစ်ခုတွင် ထိုင်စေပြီးလျှင် တမန်တော်မြတ် မိန့်ကြားတော်မူသည့် အတိုင်း အဆိုပါ အသက်ဖိုး လျော်ကြေးကိစ္စတွင် ပါဝင်လှူဒါန်းနိုင်ရန် ကျွန်တော်တို့ ယခုပင်စီစဉ်ကြပါမည်ဟု ပြောဆိုကာ အသီးသီး ထွက်ခွာသွားခဲ့ကြ၏။

ထို့နောက် တမန်တော်မြတ်အား လုပ်ကြံသတ်ဖြတ်ရန် အချင်းချင်း ဆွေးနွေးတိုင်ပင်ခဲ့ကြ၏။ သို့တိုင်ပင်ပြီးနောက် တမန်တော်မြတ်အား လုပ်ကြံသတ်ဖြတ်နိုင်ရန်အတွက် လူတစ်ဦးသည် အမြင့်သို့တက်၍ တမန်တော်မြတ်အပေါ်သို့ ကြီးလေးသော ကျောက်တုံးကြီးတစ်ခုကို ပစ်ချရန် ဆုံးဖြတ်ခဲ့ကြ၏။ သို့ဆုံးဖြတ်ခဲ့ကြ သည့်အတိုင်း လက်တွေ့အကောင်အထည်ဖော်ရန် စီစဉ်ခဲ့ကြ၏။

ထိုအချိန်မှာပင် အလ္လာဟ်အရှင်မြတ်ထံတော်မှ ဝဟီဖြင့် ၎င်းတို့၏ ယုတ်မာပက်စက်သော အကြံအစည် ကို တမန်တော်မြတ် သိရှိသွားတော်မူခဲ့ရာ၊ တမန်တော်မြတ်သည် အဆိုပါနေရာမှ ချက်ချင်းပင် ထပြန်ပြီး ပြန်ကြွလာတော်မူခဲ့လေသည်။ ထို့နောက် တမန်တော်မြတ်က အဆိုပါ မျိုးနွယ်ဝင်များထံ 'အသင်တို့သည် မဟာမိတ်စာချုပ်ကို စတင်ချိုးဖောက်လိုက်ပြီဖြစ်ရာ အသင်တို့၌ (၁၀)ရက် ခွင့်ရှိသည်။ ဤ (၁၀)ရက်အတွင်း မိမိတို့လိုရာသို့ ရွှေ့ပြောင်းသွားနိုင်ကြသည်။ ဤ (၁၀)ရက် ကုန်လွန်ပြီးနောက် ဤနေရာတွင် အသင်တို့အနက် တစ်ဦးတစ်ယောက် တွေ့ရှိရပါက ကွပ်မျက်သတ်ဖြတ်ခြင်း ခံရမည်သာဖြစ်သည်'ဟု လူလွှတ်ပြောကြားစေတော် မူခဲ့လေသည်။

ယင်းသို့ တမန်တော်မြတ်က ပြောကြားလိုက်တော်မူသည့်အခါ ဗနီနသွီရ်မျိုးနွယ်ဝင်များသည် မိမိတို့၏မြို့ရွာကိုစွန့်၍ အရပ်တပါးသို့ ရွှေ့ပြောင်းသွားကြရန် စိတ်ကူးခဲ့ကြ၏။ ထိုအချိန်တွင် မုနာဖစ်က်တို့၏ ခေါင်းဆောင်ဖြစ်သူ အဗ်ဒုလ္လာဟ်အိဗ်နုအုဗိုင်ယ်က ဗနီနသွီရ်ထံ လူလွှတ်၍ 'အသင်တို့သည် ➤➤

وَقَذَفَ فِي قُلُوبِهِمُ الرُّعْبَ يُخْرِبُونَ بُيُوتَهُم بِأَيْدِيهِمْ وَأَيْدِي الْمُؤْمِنِينَ فَاعْتَبِرُوا يَا أُولِي الْأَبْصَارِ ②

သို့တစေလည်း အလ္လာဟ်အရှင်မြတ်(၏ ပြစ်ဒဏ်)သည် ၎င်းတို့ထံ ၎င်းတို့ မထင်မြင်မယူဆခဲ့ကြသောနေရာမှ ရောက်ရှိ၍လာခဲ့၏။ ထိုမှတစ်ပါး ထိုအရှင်မြတ်သည် ၎င်းတို့၏ စိတ်နှလုံးများတွင် ကြောက်ရွံ့စိုးရိမ်မှုကို သက်ရောက်စေတော်မူခဲ့ရာ ထိုသူတို့မှာ မိမိတို့၏နေအိမ်များကို မိမိတို့၏လက်များဖြင့်လည်းကောင်း၊ မုအ်မင်န်သက်ဝင် ယုံကြည်သူတို့၏ လက်များဖြင့်လည်းကောင်း၊ ဖျက်ဆီးလျက် ရှိခဲ့ကြကုန်၏။ သို့ဖြစ်ပေရာ အို-ဉာဏ်(ပညာ)မျက်စိရှင်အပေါင်းတို့၊ အသင်တို့သည် သင်ခန်းစာယူကြလေကုန်။

---

➤➤ မိမိတို့၏ မြို့ရွာကိုစွန့်ခွာ၍ မည်သည့်အရပ်သို့မျှ မသွားကြနှင့်။ ကျွန်ုပ်တို့ထံတွင် လူ (၂၀၀၀)ရှိသည်။ ကျွန်ုပ်တို့သည် အသင်တို့အား အသက်ပေး၍ ကာကွယ်ကြမည်။ အသင်တို့၌ မည်သို့မျှ မှဲ့စွန်းမရှိစေရ၊ မည်သို့မျှ ဒုက္ခ မဖြစ်စေရ'ဟု ပြောကြားစေခဲ့၏။

ဗနီနသွီရ်မျိုးနွယ်ဝင်များသည် အဗ်ဒုလ္လာဟ်အိဗ်နုအုဗိုင်ယ်၏စကားကို ယုံစားပြီးလျှင် တမန်တော်မြတ်ထံသို့ 'ကျွန်တော်တို့သည် မည်သည့်အရပ်သို့မျှ ရွှေ့ပြောင်းသွားကြမည်မဟုတ်ပါ။ တမန်တော်မြတ်သည် ပြုလုပ်တော်မူလိုသည်များကို ပြုလုပ်တော်မူနိုင်ပါသည်'ဟု လူလွှတ် ဖြေကြားခဲ့ကြ၏။ ထိုအခါ တမန်တော်မြတ်သည် တပည့်သား မွတ်စ်လင်မ် ရဲဘော်ရဲဘက်များနှင့်အတူ ကြွသွားတော်မူခဲ့၏။ ဗနီနသွီရ်မျိုးနွယ်ဝင်များသည် ခံတပ်များတွင် ခိုအောင်းနေခဲ့ကြ၏။ မုနာဖစ်က်များသည် မျက်နှာလွှဲ၍ ထိုင်နေခဲ့ကြ၏။

မွတ်စ်လင်မ်များသည် ခံတပ်များတွင် ခိုအောင်းလျက်ရှိသော ဗနီနသွီရ်မျိုးနွယ်ဝင်များအား ဝိုင်းဝန်းထားခဲ့ကြ၏။ ၎င်းတို့၏ ဥယျာဉ်များအတွင်းရှိ အချို့အပင်များကို ခုတ်လှဲဖြတ်တောက်ခဲ့ကြ၏။ အချို့ကို မီးတင်ရှို့ခဲ့ကြ၏။

နောက်ဆုံးတွင် ဗနီနသွီရ်မျိုးနွယ်ဝင်များသည် မိမိတို့ကိုယ်ကိုမိမိတို့ မကာကွယ်နိုင်ကြသည့်အဆုံး၌ ပထမအကြိမ် ရင်ဆိုင်တွေ့ဆုံရာ၌ပင် တစ်စုံတစ်ရာခုခံခြင်းမပြုဘဲ၊ အရှုံးပေးကာ မိမိတို့ မြို့ရွာများမှ ထွက်ခွာသွားကြပါမည့်အကြောင်း တမန်တော်မြတ်ထံ၌ မေတ္တာရပ်ခံကြရာ၊ တမန်တော်မြတ်က 'အသင်တို့သည် လက်နက်များမှတပါး အခြားသယ်ဆောင်သွားနိုင်သမျှ ပစ္စည်းများကို သယ်ဆောင်သွားနိုင်ကြသည်'ဟု မိန့်ကြားကာ ခွင့်ပြုတော်မူလိုက်လေသည်။

ထိုအခါ ဗနီနသွီရ်မျိုးနွယ်ဝင်များအနက် အချို့သည် ဆီးရီးယားနိုင်ငံသို့ ရွှေ့ပြောင်းသွားခဲ့ကြ၏။ သို့ရွှေ့ပြောင်းသွားကြရာတွင် လောဘရမ္မက် ကြီးကြသည်က တစ်ကြောင်း၊ မွတ်စ်လင်မ်တို့အပေါ်၌ မနာလိုစိတ်ရှိနေသည်က တစ်ကြောင်း ဤအကြောင်းများကြောင့် မိမိတို့ အိုးအိမ်များ၏ တံခါး၊ တံခါးပေါင်၊ မင်းတုံးစသည့် အသေးအဖွဲများကိုပင် ဖြုတ်ယူသယ်ဆောင်သွားခဲ့ကြလေသည်။

ဤဖြစ်ရပ်သည် ဗဒ်ရ်စစ်ပွဲ၏နောက်၊ ဟိဂျ်ရီ ၄-ခုနှစ်၊ ရဗီအုလ်အောင်ဝလ်လတွင် ဖြစ်ပေါ်ခဲ့၏။➤➤

وَلَوْلَآ أَن كَتَبَ ٱللَّهُ عَلَيْهِمُ ٱلْجَلَآءَ لَعَذَّبَهُمْ فِى ٱلدُّنْيَا ۖ وَلَهُمْ فِى ٱلْـَٔاخِرَةِ عَذَابُ ٱلنَّارِ ③

၃။ စင်စစ်သော်ကား အကယ်၍သာ အလ္လာဟ် အရှင်မြတ်သည် ၎င်းတို့နှင့်ပတ်သက်၍ ပြည်နှင်ဒဏ် ပေးခြင်းကို ရေးမှတ်ပြဋ္ဌာန်းတော်မူခဲ့သည် မရှိပါလျှင် အမှန်ပင် ထိုအရှင်မြတ်သည် ပစ္စုပ္ပန်ဘဝ၌ ၎င်းတို့ အား (ကွပ်မျက်သတ်ဖြတ်၍) ပြစ်ဒဏ်ခတ်တော်မူခဲ့ ပေမည်။ စင်စစ်သော်ကား 'အာခိရတ်' တမလွန်ဘဝ ၌မူ ငရဲ၏ပြစ်ဒဏ်သည် ၎င်းတို့၌ ရှိပေမည်။

ذَٰلِكَ بِأَنَّهُمْ شَآقُّوا۟ ٱللَّهَ وَرَسُولَهُۥ ۖ وَمَن يُشَآقِّ ٱللَّهَ فَإِنَّ ٱللَّهَ شَدِيدُ ٱلْعِقَابِ ④

၄။ ယင်းသို့ ဖြစ်ရခြင်းမှာ ထိုသူတို့သည် အလ္လာဟ် အရှင်မြတ်အားလည်းကောင်း၊ ထိုအရှင်မြတ်၏ ရစူလ် တမန်တော်မြတ်အားလည်းကောင်း၊ ဆန့်ကျင်ဖီလာ ပြုလုပ်ခဲ့ကြသောကြောင့်ပင်။ စင်စစ်သော်ကား မည်သူ မဆို အလ္လာဟ်အရှင်မြတ်အား ဆန့်ကျင်ဖီလာ ပြုလုပ် ခဲ့မူ ဧကန်မလွဲ အလ္လာဟ်အရှင်မြတ်သည် ပြင်းထန်စွာ ပြစ်ဒဏ်ခတ်တော်မူသောအရှင်မြတ်ပင် ဖြစ်တော်မူ၏။

مَا قَطَعْتُم مِّن لِّينَةٍ أَوْ تَرَكْتُمُوهَا قَآئِمَةً عَلَىٰٓ أُصُولِهَا فَبِإِذْنِ ٱللَّهِ وَلِيُخْزِىَ ٱلْفَٰسِقِينَ ⑤

၅။ စွန်ပလွံပင်များကို အသင်တို့ ခုတ်လှဲဖြတ် တောက်ခဲ့ကြခြင်း၊ သို့မဟုတ် ယင်းစွန်ပလွံပင်များကို ၎င်းတို့၏ အောက်ခြေအမြစ်များပေါ်၌ ရပ်တည်လျက် ချန်ထားခဲ့ကြခြင်းသည် အလ္လာဟ်အရှင်မြတ်၏ အမိန့် တော်နှင့်အညီပင် ဖြစ်သည်။ ထို့ပြင်တစ်ဝ ထိုအရှင်မြတ် သည် အမိန့်တော်ကို သွေဖည်သောသူတို့အား အရှက် တကွဲ ဖြစ်စေတော်မူအံ့သောငှာ ဖြစ်ပေသတည်း။

➤➤ ဤသို့ဖြင့် ဗနီနသွီရ်မျိုးနွယ်ဝင်များသည် ပထမအကြိမ် ပြည်နှင်ဒဏ် ခံခဲ့ကြရ၏။ ထို့နောက် (ခလီဖဟ်) သမ္မတကြီး အုမရ်လက်ထက်တွင် ၎င်းတို့သည် အခြားရေဝတီများနှင့်အတူ ဒုတိယအကြိမ် ပြည်နှင်ဒဏ်ပေးခြင်း ခံခဲ့ကြရသေး၏။ ကြည့်-ထာနဝီ၊ ရှုဟ်။ ဓာဒုလ်မအာဒ်။

ရှေ့အာယတ်တော်များတွင် ဤသည့်ဖြစ်ရပ်ကိုပင် ရည်ညွှန်းမိန့်ဆိုထားတော်မူသည်။

وَمَآ أَفَآءَ ٱللَّهُ عَلَىٰ رَسُولِهِۦ مِنْهُمْ فَمَآ أَوْجَفْتُمْ عَلَيْهِ مِنْ خَيْلٍ وَلَا رِكَابٍ وَلَٰكِنَّ ٱللَّهَ يُسَلِّطُ رُسُلَهُۥ عَلَىٰ مَن يَشَآءُ ۚ وَٱللَّهُ عَلَىٰ كُلِّ شَىْءٍ قَدِيرٌ ٦

၆။ ထို့ပြင် အလ္လာဟ်အရှင်မြတ်သည် မိမိ ရစူလ်တမန်တော်မြတ်အား ၎င်းတို့ထံမှ 'ဖိုင်အ်'[၁] လက်ရပစ္စည်းအဖြစ် သိမ်းပိုက်စေတော်မူခဲ့သော အရာများမှာမူကား အသင်တို့သာ ယင်းပစ္စည်းများအပေါ်သို့ မြင်းများကို (စီးနှင်း) မောင်းနှင်ခဲ့ကြသည်လည်း မဟုတ်ပေ၊ ကုလားအုတ်များကို (စီးနှင်း)မောင်းနှင်ခဲ့ကြသည်လည်း မဟုတ်ပေ။

စင်စစ်မှာကား အလ္လာဟ်အရှင်မြတ်သည် မိမိ ရစူလ်တမန်တော်များအား မိမိအလိုရှိတော်မူသောသူတို့ အပေါ်ဝယ် လွှမ်းမိုးစေတော်မူ၏။ စင်စစ်သော်ကား အလ္လာဟ်အရှင်မြတ်သည် အရာခပ်သိမ်းတို့ကို စွမ်းနိုင်တော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူ၏။

مَّآ أَفَآءَ ٱللَّهُ عَلَىٰ رَسُولِهِۦ مِنْ أَهْلِ ٱلْقُرَىٰ فَلِلَّهِ وَلِلرَّسُولِ وَلِذِى ٱلْقُرْبَىٰ وَٱلْيَتَٰمَىٰ

၇။ အလ္လာဟ်အရှင်မြတ်သည် မိမိရစူလ်တမန်တော်မြတ်အား မြို့ရွာများတွင်နေထိုင်သောသူတို့ထံမှ 'ဖိုင်အ်' လက်ရပစ္စည်းအဖြစ် သိမ်းပိုက်စေတော်မူခဲ့သောအရာများကား အလ္လာဟ်အရှင်မြတ်နှင့်သာ သက်ဆိုင်၏။

---

**(၁) 'ဖိုင်အ်' လက်ရပစ္စည်း။**

'ဖိုင်အ် နှင့် ဃနီမတ်' သည် မတူ၊ ခြားနားသည်။ စစ်မြေပြင်တွင် ရန်သူများနှင့်တိုက်ခိုက်၍ ရန်သူများလက်မှ သိမ်းပိုက်ရရှိလိုက်သော လက်ရပစ္စည်းကို 'ဃနီမတ်'ဟု ခေါ်သည်။ 'နဖလ်'၊ 'အန်ဖာန်'ဟူ၍လည်း ခေါ်သည်။ 'ဃနီမတ်' လက်ရပစ္စည်းအနက် ၅-ပုံ ၁-ပုံသည် တမန်တော်မြတ်နှင့် သက်ဆိုင်သည်။ ကျန် ၄-ပုံသည် သက်ဆိုင်ရာ စစ်သည်များအား ခွဲဝေပေးရသည်။

ဤအကြောင်း ကုရ်အာန် (၈း၁)တွင် လည်းကောင်း၊ (၈း၄၁)တွင်လည်းကောင်း၊ ပါရှိခဲ့ချေပြီ။ သက်ဆိုင်ရာ အဖွင့်များကိုလည်း အကျယ်ရေးသားခဲ့ပေပြီ။

စစ်မြေပြင်တွင် ရန်သူများနှင့် ယှဉ်ပြိုင်တိုက်ခိုက်ခြင်းမရှိဘဲ ရန်သူများလက်မှ သိမ်းပိုက်ရရှိလိုက်သော လက်ရပစ္စည်းကို 'ဖိုင်အ်'ဟု ခေါ်သည်။ 'ဖိုင်အ်' ခေါ် လက်ရပစ္စည်းသည် အများမွတ်စလင်မ်တို့နှင့် ဆိုင်သည်။ အစ္စလာမ်အစိုးရ ဘဏ္ဍာတော်တွင် ထားရှိရသည်။ အများအကျိုးပြု ကိစ္စများတွင် လိုအပ်သောနေရာများ၌ အသုံးပြုရသည်။

وَالْمَسٰكِيْنِ وَابْنِ السَّبِيْلِ كَيْ لَا يَكُوْنَ دُوْلَةً بَيْنَ الْاَغْنِيَآءِ مِنْكُمْ ؕ وَمَآ اٰتٰىكُمُ الرَّسُوْلُ فَخُذُوْهُ ۚ وَمَا نَهٰىكُمْ عَنْهُ فَانْتَهُوْا ۚ وَاتَّقُوا اللّٰهَ ؕ اِنَّ اللّٰهَ شَدِيْدُ الْعِقَابِ ۘ

ထို့ပြင် ရစူလ်တမန်တော်မြတ်နှင့်လည်းကောင်း၊ (ထိုရစူလ်တမန်တော်မြတ်၏) ဆွေရင်းသားရင်းတို့နှင့်လည်းကောင်း၊ ဖမဲ့ကလေးသူငယ်တို့နှင့်လည်းကောင်း၊ သူဆင်းရဲတို့နှင့်လည်းကောင်း၊ ခရီးသည်တို့နှင့်လည်းကောင်း၊ သက်ဆိုင်၏။

(ယင်းကဲ့သို့ ပြဋ္ဌာန်းတော်မူခြင်းမှာ) ယင်းလက်ရပစ္စည်းများသည် အသင်တို့အနက် *ကုံလုံကြွယ်ဝသောသူတို့၏ အကြား၌သာ လည်နေသောပစ္စည်းများ မဖြစ်စေရန် (ပြဋ္ဌာန်းတော်မူခြင်း)ပင်။* [၁] ထို့ပြင် အသင်တို့သည် မိမိတို့အား ရစူလ်တမန်တော်မြတ်က ပေးခဲ့သည်ကို ယူကြလေကုန်။ ထိုနည်းတူစွာ ထိုရစူလ်တမန်တော်မြတ်က *တားမြစ်တော်မူသည်မှ ရှောင်ကြဉ်ကြလေကုန်။* [၂]

---

(၁) တမန်တော်မြတ်သည် 'ဖိုင်အ်'လက်ရပစ္စည်းများကို မိမိ၏သားချင်းများ၊ ဖသက်ဆိုးကလေးများ၊ ဆင်းရဲသားများ၊ ဒုက္ခဖြစ်နေသော ခရီးသည်များအား ခွဲဝေပေးတော်မူလေ့ရှိခဲ့ပေသည်။

'ဖိုင်အ်'လက်ရပစ္စည်းများ ခွဲဝေသုံးစွဲရာ ဌာနများတွင် ဆင်းရဲသားများအား အထူးတလည် ထုတ်ဖော်မိန့်ဆိုထားတော်မူခြင်းမှာ ယင်းပစ္စည်းများသည် ကုံလုံကြွယ်ဝသူတစ်စု၏ လက်များတွင် လည်မနေရန်ပင်ဖြစ်သည်။

ကုံလုံကြွယ်ဝသူတစ်စုက ဆင်းရဲသားများအပေါ်၌ ခေါင်းပုံမဖြတ်နိုင်ရန်ပင်ဖြစ်သည်။ ဤသည်ကို ထောက်ရှုခြင်းအားဖြင့် အစ္စလာမ်သည် ဆင်းရဲသားတို့အား အဘယ်မျှ ထောက်ထားသည်ကို ကောင်းစွာ သိရှိနိုင်ပေသည်။

ထို့ပြင်တစ်ဝ အစ္စလာမ်သည် လူတစ်စု၏လက်တွင် အကြောင်းမဲ့ဥစ္စာပစ္စည်း စုပုံနေသည်ကို မလိုလားသည်မှာ ထင်ရှားနေပေသည်။

(၂) ဆိုလိုသည်ကား 'ဖိုင်အ်' လက်ရပစ္စည်းများနှင့် စပ်လျဉ်း၍ အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်အရ တမန်တော်မြတ် ခွဲဝေပေးသည်များကို မွတ်စ်လင်မ်များသည် ကြည်ဖြူစွာ လက်ခံကြရပေမည်။ တားမြစ်တော်မူသောအရာများမှ ကြည်ဖြူစွာ ရပ်တန့်သွားကြရပေမည်။

ဤအာယတ်တော်သည် 'ဖိုင်အ်' လက်ရပစ္စည်းများနှင့် စပ်လျဉ်းသော်လည်း အမိန့်၊ ပညတ်အရပ်ရပ်သည် ဤအာယတ်တော်တွင် အကျုံးဝင်ပေသည်။ (ဝါ) တမန်တော်မြတ် မိန့်ကြားတော်မူသမျှကို နာခံကြရပေမည်။ တားမြစ်တော်မူသမျှကို ရှောင်ကြည်ကြရပေမည်ဟူ၏။ ကြည့် – (မအာလင်မ်)၊ အိဗ်နုကဆီရ်၊

ထိုမှတစ်ပါး အသင်တို့သည် အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ကြလေကုန်။ စေန်မလွဲ အလ္လာဟ်အရှင်မြတ်သည် ပြင်းထန်စွာ အပြစ်ပေးတော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

لِلْفُقَرَآءِ الْمُهٰجِرِيْنَ الَّذِيْنَ أُخْرِجُوْا مِنْ دِيَارِهِمْ وَأَمْوَالِهِمْ يَبْتَغُوْنَ فَضْلًا مِّنَ اللّٰهِ وَرِضْوَانًا وَّيَنْصُرُوْنَ اللّٰهَ وَرَسُوْلَهٗ ۚ أُولٰٓئِكَ هُمُ الصّٰدِقُوْنَ ۝٨

၈။ အကြင် 'မုဟာဂျိရီန်' (မက္ကာမြို့တော်မှ) ရွှေ့ပြောင်းခဲ့ကြသော သူဆင်းရဲတို့နှင့် (အထူး) သက်ဆိုင်၏။ ထိုသူတို့သည် မိမိတို့၏နေအိမ်များကိုလည်းကောင်း၊ မိမိတို့၏ ပစ္စည်းဥစ္စာများကိုလည်းကောင်း၊ စွန့်၍ ထွက်ခဲ့ကြရကုန်၏။ ထိုသူတို့မှာကား အလ္လာဟ်အရှင်မြတ်၏ကျေးဇူးတော်ကိုလည်းကောင်း၊ ကျေနပ်မှုကိုလည်းကောင်း၊ ရှာဖွေဆည်းပူးလျက် ရှိကြကုန်၏။ ထို့ပြင် ထိုသူတို့သည် အလ္လာဟ်အရှင်မြတ်အား လည်းကောင်း၊ ထိုအရှင်မြတ်၏ ရစူလ်တမန်တော်မြတ်အားလည်းကောင်း၊ ကူညီကြကုန်၏။ ထိုသူတို့သည်ပင် လျှင် သစ္စာဝါဒီများ ဖြစ်ကြကုန်၏။

وَالَّذِيْنَ تَبَوَّءُو الدَّارَ وَالْإِيْمَانَ مِنْ قَبْلِهِمْ يُحِبُّوْنَ مَنْ هَاجَرَ إِلَيْهِمْ وَلَا يَجِدُوْنَ فِيْ صُدُوْرِهِمْ حَاجَةً مِّمَّآ أُوْتُوْا وَيُؤْثِرُوْنَ عَلٰٓى أَنْفُسِهِمْ وَلَوْ كَانَ بِهِمْ خَصَاصَةٌ ۗ وَمَنْ

၉။ ထိုမှတစ်ပါး အကြင်သူတို့နှင့်လည်း သက်ဆိုင်၏။ ထိုသူတို့သည် ထို 'မုဟာဂျိရီန်'တို့(ရောက်မလာမီ)အလျှင်ကပင် 'ဒါရွလ်အစ္စလာမ်' အစ္စလာမ့်မြို့တော်၌ နေထိုင်လျက်ရှိကြကုန်၏။ 'အီမာန်'သက်ဝင်ယုံကြည်မှုတွင် ကြံ့ခိုင်စွာ ရှိခဲ့ကြကုန်၏။ ၎င်းတို့သည် မိမိတို့ထံ ရွှေ့ပြောင်းခဲ့ကြသောသူတို့အား ချစ်မြတ်နိုးကြကုန်၏။ ထို့ပြင် ၎င်းတို့သည် ထို 'မုဟာဂျိရီန်' များရရှိကြသော ပစ္စည်းများကြောင့် မိမိတို့၏ စိတ်ထဲ၌ တစ်စုံတစ်ရာ မကျေနပ်မှုကို တွေ့ရှိခံစားကြရသည် မဟုတ်ပေ။ [၁]

---

(၁) **ဦးစားပေးထိုက်သူများ။**

ဆိုလိုသည်ကား 'ဖိုင်အ်'လက်ရပစ္စည်းများကို မည်သူတို့အား ခွဲဝေပေးရမည့်အကြောင်း ➤➤

يُوقَ شُحَّ نَفْسِهِۦ فَأُولَٰٓئِكَ هُمُ الْمُفْلِحُونَ ۝٩

ထိုမှတစ်ပါး ၎င်းတို့သည် မိမိတို့ကိုယ်တိုင် ငတ်မွတ်နေသော်လည်း (ထိုမုဟာဂျီရီန်တို့အား) မိမိတို့ထက် ဦးစားပေးကြကုန်၏။ စင်စစ်သော်ကား မည်သူမဆို မိမိကိုယ်တိုင်၏ လောဘရမ္မက်ကြီးမှုနှင့် ကင်းစေခြင်းခံရလျှင် ထိုကဲ့သို့သော သူတို့သည် *အောင်မြင်သောသူများ ဖြစ်ကြပေသည်။* [၁]

---

➤➤ အထက်တွင် ပါရှိ၏။ ယင်းပုဂ္ဂိုလ်များသည် ယေဘုယျအားဖြင့် ဆင်းရဲနွမ်းပါး သူများပင်ဖြစ်ကြ၏။ ဆင်းရဲနွမ်းပါးသူများတွင်လည်း ပို၍ဦးစားပေးထိုက်သူများ ရှိကြသေး၏။ ဤအာယတ်တော်များတွင် ၎င်းတို့၏အကြောင်းကိုပင် မိန့်ဆိုထားတော်မူသည်။

'ဖိုင်အ်' လက်ရပစ္စည်းများကို ခွဲဝေရာ၌ ဆင်းရဲနွမ်းပါးသော မုဟာဂျီရ်များအား ဦးစားပေးထိုက်ပေသည်။ အဘယ်ကြောင့်ဆိုသော် ၎င်းတို့သည် အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်နှင့်ကျေနပ်မှုကို ဆည်းပူးရန်နှင့် တမန်တော်မြတ်အား ကူညီရန်အလို့ငှာ မိမိတို့၏ မြို့ရွာ၊ အိုးအိမ်နှင့် ဥစ္စာပစ္စည်းများကိုပင် စွန့်ခဲ့ကြ၏။

လောကီသံယောဇဉ်များကို ဖြတ်တောက်၍ အလ္လာဟ်အရှင်မြတ်၏ လမ်းတော်တွင် စွန့်စားစွာ ထွက်လာခဲ့ကြ၏။ အိမ်မဲ့အိုးမဲ့နေခဲ့ကြရရှာ၏။ စားဝတ်နေရေးတွင် အလွန်တရာမျှ ကသီလင်တ ဖြစ်ခဲ့ကြရရှာ၏။

ဤသို့သော ဆင်းရဲသား မုဟာဂျီရ်များအား အမှန်ပင် ဦးစားပေးထိုက်ပေသည်။ မဒီနာမြို့နေ 'အန်ဆွာရ်' များအားလည်း ဦးစားပေးထိုက်ပေသည်။ အန်ဆွာရ်များသည် မုဟာဂျီရ်များ မလာရောက်မီကတည်းကပင် မဒီနာမြို့၌ နေထိုင်လျက် ရှိခဲ့ကြ၏။ အီမာန်ယုံကြည်မှုအပေါ်တွင်လည်း ကြံ့ခိုင်စွာရပ်တည်လျက် ရှိခဲ့ကြ၏။ ၎င်းတို့တွင် သူတစ်ပါး ကူညီစောင့်ရှောက်လိုသော စိတ်ဓာတ်သည် အပြည့်အဝရှိခဲ့၏။

၎င်းတို့သည် မိမိတို့ထံ ရွှေ့ပြောင်းလာကြသော မုဟာဂျီရ်များအား အူလိုက်သည်းလိုက် ချစ်ကြည်မြတ်နိုးခဲ့ကြ၏။ ၎င်းတို့ကိုယ်တိုင် အဆင်းရဲခံပြီး မုဟာဂျီရ်များအား ပြုစုခဲ့ကြ၏။ မုဟာဂျီရ်များ ရရှိလာသော ပစ္စည်းများနှင့် စပ်လျဉ်း၍လည်း ၎င်းတို့သည် မကြည်မသာ ဖြစ်ရန်ဝေးစွ၊ အကျေနပ်ကြီး ကျေနပ်ခဲ့ကြ၏။ ဝမ်းအသာကြီး သာခဲ့ကြ၏။

အန်ဆွာရ်တို့၏ စိတ်နေစိတ်ထား ဖြူစင်လှပါဘိတကား။ ဤသို့သော 'အန်ဆွာရ်' များအားလည်း အမှန်ပင် ဦးစားပေးထိုက်ပေသည်။ 'မုဟာဂျီရ်'များနှင့် 'အန်ဆွာရ်'တို့၏ စွန့်စားမှု၊ ချစ်ကြည်မှု၊ ကူညီထောက်ပံ့မှုတို့သည် အထူးပင်စိတ်ဝင်စားဖွယ် အတုယူဖွယ်ကောင်းလှပေသည်။ ၎င်းတို့၏ အကြောင်းများကို 'တမန်တော်မြတ်' ကျမ်းတွင် အကျယ် တွေ့ရှိနိုင်ပေသည်။

(၁) 'ရှုဟ်ဟ်' ဟူသည် ကြီးမားသော လောဘရမ္မက်နှင့် ဒွန်တွဲလျက်ရှိသည့် အထုံအဖြစ်ရှိနေသော စေးနဲမှုကို ဆိုသည်။ ကြည့် - ရာဃိဗ်။ လောဘရမ္မက်ရှိသူ၊ စေးနဲသူ၊ အထူးသဖြင့် လောဘရမ္မက် ကြီးမားသည်သာမက အလွန့်အလွန် စေးနဲတွန့်တိုမှုအထုံ ပါနေသူတစ်ဦးသည် သူတစ်ပါးအား အသို့လျှင် အကျိုးပြုနိုင်အံ့နည်း။ လောဘရမ္မက်မရှိသော၊ စေးနဲတွန့်တိုမှုကင်းသော ပုဂ္ဂိုလ်တစ်ဦးသာလျှင် သူတစ်ပါးအားအကျိုးပြုနိုင်ပေသည်။ ထိုသို့သော ပုဂ္ဂိုလ်မျိုး သာလျှင် အောင်မြင်နိုင်ကြပေသည်။ အန်ဆွာရ်နှင့် မုဟာဂျီရ်များသည် ဤသည့်ဂုဏ်ရည်၏ သရုပ်သကန်များပင် ဖြစ်ခဲ့ကြပေသည်။

وَالَّذِينَ جَاءُو مِنْ بَعْدِهِمْ
يَقُولُونَ رَبَّنَا اغْفِرْ لَنَا وَلِإِخْوَانِنَا
الَّذِينَ سَبَقُونَا بِالْإِيمَانِ
وَلَا تَجْعَلْ فِي قُلُوبِنَا غِلًّا
لِلَّذِينَ آمَنُوا رَبَّنَا إِنَّكَ
رَءُوفٌ رَحِيمٌ ١٠

၁၀။ ထိုမှတစ်ပါး ၎င်းတို့နောက် လာကြသောသူတို့နှင့်လည်း သက်ဆိုင်၏။ ထိုသူတို့သည် (ဤသို့) ပန်ကြားကြကုန်၏။ 'အို-ကျွန်တော်မျိုးတို့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်၊ အရှင်မြတ်သည် ကျွန်တော်မျိုးတို့အားလည်းကောင်း၊ 'အီမာန်' သက်ဝင်ယုံကြည်မှုတွင် ကျွန်တော်မျိုးထက် ဦးခဲ့ကြသော ကျွန်တော်မျိုးတို့၏နောင်တော်တို့အားလည်းကောင်း၊ ခွင့်လွှတ် ချမ်းသာပေးသနားတော်မူပါ။

ထိုမှတစ်ပါး အရှင်မြတ်သည် ကျွန်တော်မျိုးတို့၏စိတ်တွင်းဝယ် 'မုအ်မင်န်' သက်ဝင်ယုံကြည်သူတို့နှင့်ပတ်သက်၍ ရန်ငြိုး တစ်စုံတစ်ရာမျှကိုပင် ဖြစ်ပေါ်စေတော်မမူပါနှင့်။ အို-ကျွန်တော်မျိုးတို့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်၊ မလွဲဧကန် အရှင်မြတ်သည် လွန်စွာ သိမ်မွေ့တော်မူသောအရှင်၊ လွန်စွာ ကရုဏာပြုတော်မူသောအရှင်၊ ဖြစ်တော်မူပါသတည်း'။

أَلَمْ تَرَ إِلَى الَّذِينَ نَافَقُوا
يَقُولُونَ لِإِخْوَانِهِمُ الَّذِينَ
كَفَرُوا مِنْ أَهْلِ الْكِتَابِ
لَئِنْ أُخْرِجْتُمْ لَنَخْرُجَنَّ مَعَكُمْ
وَلَا نُطِيعُ فِيكُمْ أَحَدًا أَبَدًا
وَإِنْ قُوتِلْتُمْ لَنَنْصُرَنَّكُمْ
وَاللَّهُ يَشْهَدُ إِنَّهُمْ لَكَاذِبُونَ ١١

၁၁။ (အို-နဗီတမန်တော်၊) အသင်သည် အယောင်ဆောင်ခဲ့ကြသောသူတို့၏ အခြေအနေကို သုံးသပ်ဆင်ခြင် တွေ့မြင်ခဲ့လေပြီ မဟုတ်ပါလော။ ထိုသူတို့သည် မိမိတို့၏ ညီအစ်ကိုများဖြစ်ကြသော ရှေးကျမ်းဂန်ရရှိသူတို့အနက် သွေဖည်ငြင်းပယ်ခဲ့ကြသောသူတို့အား (ဤသို့) ပြောဆိုလျက်ရှိခဲ့ကြ၏။

အမှန်ပင် အကယ်၍သာ အသင်တို့သည် (မဒီနာမြို့တော်မှ) နှင်ထုတ်ခြင်းကို ခံခဲ့ကြရလျှင် ဧကန်မလွဲ ကျွန်ုပ်တို့သည်လည်း အသင်တို့နှင့်အတူ ထွက်ကြမည်။ စင်စစ် ကျွန်ုပ်တို့သည် အသင်တို့နှင့် ပတ်သက်၍ မည်သည့်အခါမျှပင် မည်သူတစ်ဦး တစ်ယောက်(၏ ပြောဆိုချက်)ကိုမျှ လိုက်နာကြမည် မဟုတ်ပေ။

ထိုမှတစ်ပါး အကယ်၍ အသင်တို့သည် တိုက်ခိုက်ခြင်းကို ခံခဲ့ကြရလျှင်လည်း မုချစင်စစ် ကျွန်ုပ်တို့သည် အသင်တို့အား ကူညီကြမည်။ အမှန်စင်စစ်သော်ကား ၎င်းတို့မှာ အမှန်ပင် မုသာဝါဒီများ ဖြစ်ကြောင်း အလ္လာဟ်အရှင်မြတ်သည် သက်သေခံတော်မူ၏။'

لَئِنْ أُخْرِجُوا لَا يَخْرُجُونَ مَعَهُمْ ۚ وَلَئِن قُوتِلُوا لَا يَنصُرُونَهُمْ ۚ وَلَئِن نَّصَرُوهُمْ لَيُوَلُّنَّ الْأَدْبَارَ ثُمَّ لَا يُنصَرُونَ ⑫

၁၂။ (စင်စစ်မှာကား) အမှန်ပင် အကယ်၍ ထိုသူတို့သည် ('မဒီနာ'မြို့တော်မှ) နှင်ထုတ်ခြင်းကို ခံခဲ့ကြရလျှင်လည်း ၎င်းတို့သည် ထိုသူတို့နှင့်အတူ ထွက်ကြမည် မဟုတ်ပေ။ ထိုနည်းတူစွာ အမှန်ပင် အကယ်၍ ထိုသူတို့သည် တိုက်ခိုက်ခြင်းကို ခံခဲ့ကြရလျှင်လည်း ၎င်းတို့သည် ထိုသူတို့အား ကူညီကြမည်မဟုတ်ပေ။ သို့ရာတွင် အကယ်၍ ၎င်းတို့သည် ထိုသူတို့အား ကူညီခဲ့ငြားအံ့လည်း ဧကန်မုချ ၎င်းတို့သည် ကျောခိုင်း၍ ထွက်ပြေးကြမည်သာ။ ထို့နောက် ထိုသူတို့သည် အကူအညီ ရရှိကြမည် မဟုတ်တော့ပြီ။

لَأَنتُمْ أَشَدُّ رَهْبَةً فِي صُدُورِهِم مِّنَ اللَّهِ ۚ ذَٰلِكَ بِأَنَّهُمْ قَوْمٌ لَّا يَفْقَهُونَ ⑬

၁၃။ အမှန်ပင် အသင်(မုစ်လင်မ်)တို့သည် ၎င်းတို့၏စိတ်တွင်းဝယ် အလ္လာဟ်အရှင်မြတ်ထက်ပင် ကြောက်ရွံ့ စိုးရိမ်ဖွယ် ဖြစ်နေကြပေသည်။ ထိုသို့ဖြစ်ရခြင်းမှာ အမှန်စင်စစ် ၎င်းတို့သည် နားမလည်သူများ *ဖြစ်ကြသောကြောင့်ပင်။* [၁]

---

① **မုနာဖစ်က်တို့၏ ဓာတိရုပ်။**

တမန်တော်မြတ်က ဗနီနသွီရ်အား မဟာမိတ်စာချုပ်ကို စတင်ချိုးဖောက်ခဲ့သည့်အတွက် (၁၀)ရက်အတွင်း မိမိတို့၏ မြို့ရွာများမှ ထွက်ခွာသွားရန် သတိပေးတော်မူလိုက်သည့်အခါ၊ အဗ်ဒုလ္လာဟ်အိဗ်နုအုဗိုင်ယ်စသည့် မုနာဖစ်က်အကြီးအကဲများက ဗနီနသွီရ်ထံသို့ လျှို့ဝှက်စွာ လူလွှတ်၍ 'အသင်တို့ မစိုးရိမ်ကြနှင့်၊ အသင်တို့သည် မိမိတို့ကိုယ်ကို မိမိတို့ မျက်နှာငယ်သည်ဟူ၍ မထင်မှတ်ကြလင့်၊ အကယ်၍ မွတ်စ်လင်မ်များက အသင်တို့အား မြို့ရွာများမှ နှင်ထုတ်ကြလျှင် ငါတို့လည်း အသင်တို့နှင့်အတူတကွ ထွက်ကြမည်၊ အကယ်၍ မွတ်စ်လင်မ်များက အသင်တို့အား တိုက်ခိုက်ကြလျှင် ငါတို့သည် အသင်တို့အား ကူညီကြမည်၊ ➤➤

لَا يُقَاتِلُونَكُمْ جَمِيعًا إِلَّا فِي قُرًى مُّحَصَّنَةٍ أَوْ مِن وَرَاءِ جُدُرٍ ۚ بَأْسُهُم بَيْنَهُمْ شَدِيدٌ ۚ تَحْسَبُهُمْ جَمِيعًا وَقُلُوبُهُمْ شَتَّىٰ ۚ ذَٰلِكَ بِأَنَّهُمْ قَوْمٌ لَّا يَعْقِلُونَ ﴿١٤﴾

၁၄။ ၎င်းတို့သည် အသင်တို့အား တစ်စည်းတစ်လုံးတည်း တိုက်ခိုက်ကြမည် မဟုတ်ပေ။ သို့ရာတွင် လုံခြုံသောမြို့ရွာများတွင်လည်းကောင်း၊ တံတိုင်းများ၏အကွယ်မှသော်လည်းကောင်း၊ တိုက်ခိုက်ကြပေမည်။ ၎င်းတို့ အချင်းချင်းတွင် ကြီးကျယ်သော ခိုက်ရန်ရှိနေ၏။ အသင်သည် ၎င်းတို့အား တစ်စည်းတစ်လုံးတည်းဟူ၍ ထင်မှတ်နေသော်လည်း အမှန်စင်စစ် ၎င်းတို့၏ စိတ်နှလုံးမှာမူကား တကွဲတပြားစီ ဖြစ်နေကြပေသည်။ ထိုသို့ဖြစ်ရခြင်းမှာ ၎င်းတို့သည် အသိဉာဏ်ကို အသုံးမပြုကြသောကြောင့်ပင်။

---

➤➤ ဤသည် ငါတို့၏ ယတိပြတ် ဆုံးဖြတ်ချက်ပင်၊ ဤသည့်ဆုံးဖြတ်ချက်ကို ဆန့်ကျင်၍ ငါတို့သည် အသင်တို့၏ အရေးတွင် မည်သူ၏စကားကိုမျှ လက်ခံကြမည်မဟုတ်'ဟု ပြောကြားခဲ့လေသည်။

အမှန်မှာ မုနာဖစ်က်များသည် ဗနီနသွီရ်မျိုးနွယ်ဝင်များအား အမှန်တကယ်လိုလား၍၊ ကြင်နာ၍၊ ကူညီလို၍၊ ကာကွယ်လို၍ စိတ်တွင်းမှ ပြောဆိုနေခဲ့ကြသည်မဟုတ်၊ မွတ်စ်လင်မ်တို့အား ဆန့်ကျင်ရန် တစ်ဖက်သားအား ဆွပေးနေခဲ့ကြခြင်းသာဖြစ်သည်။ ၎င်းတို့သည် မုနာဖစ်က်များပီပီ ပြောဆိုကြသည့်အတိုင်း ဘယ်သောအခါမျှ လက်တွေ့ပြုလုပ်ခဲ့ကြသည် မရှိပေ။

နောက်ဆုံးတွင် မွတ်စ်လင်မ်များသည် ဗနီနသွီရ်မျိုးနွယ်ဝင်များအား တိုက်ခိုက်ရန် စစ်ချီလာခဲ့ကြ၏။ ဗနီနသွီရ်မျိုးနွယ်ဝင်များသည် မိမိတို့၏ခံတပ်များတွင် ခိုအောင်းနေခဲ့ကြ၏။ ယင်းသို့ ဗနီနသွီရ် မျိုးနွယ်များ၏ အခြေအနေ ဆိုးရွားနေသည့် အရေးကြီးလှသည့်အချိန်မျိုးတွင်ပင် ၎င်းတို့အား ကာကွယ်ရန်အတွက် မုနာဖစ်က်တစ်ဦးတစ်ယောက်မျှပင် ထွက်ပေါ်မလာခဲ့ပေ။

နောက်ဆုံးတွင် ဗနီနသွီရ် မျိုးနွယ်ဝင်များသည် မွတ်စ်လင်မ်တို့အား အရှုံးပေးကာ မိမိတို့၏မြို့ရွာများမှ ထွက်ခွာသွားခဲ့ကြရလေသည်။ ထိုအချိန်တွင် မုနာဖစ်က်များ သည် မိမိတို့၏ နေအိမ်များတွင် မသိဟန်ဆောင်ကာ အေးချမ်းစွာ နေထိုင်ခဲ့ကြလေသည်။

အကယ်စင်စစ်၊ မုနာဖစ်က်များသည် ဗနီနသွီရ်မျိုးနွယ်ဝင်များအား ကာကွယ်ရန် ထွက်လာခဲ့ကြသည့်တိုင်၊ မွတ်စ်လင်မ်များနှင့် တိုက်ခိုက်ရာတွင် ကျောပေးထွက်ပြေးကြမည်သာ။ ထိုအချိန်တွင် မုနာဖစ်က်များသည် သူတစ်ပါးတို့အား ကာကွယ်ရန်ဝေးစွ၊ မိမိတို့အား ကာကွယ်မည့်သူ တစ်ဦးတစ်ယောက်ကိုမျှပင် တွေ့ရှိကြရမည် မဟုတ်ပေ။

မုနာဖစ်က်များသည် မွတ်စ်လင်မ်တို့၏ သူရဲသတ္တိကို ကောင်းစွာ သိကြပေသည်။ မွတ်စ်လင်မ်တို့အား စိတ်တွင်းမှ အကြောက်ကြီးကြောက်လျက် ရှိခဲ့ကြပေသည်။ ဤကား မုနာဖစ်က်တို့၏ ဇာတိရုပ်ပင်။

كَمَثَلِ الَّذِيْنَ مِنْ قَبْلِهِمْ قَرِيْبًا ذَاقُوْا وَبَالَ اَمْرِهِمْ ۚ وَلَهُمْ عَذَابٌ اَلِيْمٌ ﴿١٥﴾

၁၅။ (ငင်းတို့၏ ဥပမာကား) ငင်းတို့နှင့် အချိန်ကာလ အနည်းငယ်အလျင် မိမိတို့၏ အပြုအမူများ၏ပြစ်ဒဏ်ကို မြည်းစမ်း သွားခဲ့ကြရသောသူတို့၏ ဥပမာကဲ့သို့ပင်။ ထိုမှတစ်ပါး ထိုသူတို့၌ (တမလွန်ဘဝတွင်လည်း) နာကျင်ဖွယ်ဖြစ်သော ပြစ်ဒဏ်သည် ရှိပေဦးမည်။

كَمَثَلِ الشَّيْطٰنِ اِذْ قَالَ لِلْاِنْسَانِ اكْفُرْ ۚ فَلَمَّا كَفَرَ قَالَ اِنِّيْ بَرِيْٓءٌ مِّنْكَ اِنِّيْٓ اَخَافُ اللّٰهَ رَبَّ الْعٰلَمِيْنَ ﴿١٦﴾

၁၆။ (ထို့ပြင် ငင်းတို့၏ ဥပမာကား) 'ရှိုင်တွာန်' မိစ္ဆာကောင်၏ဥပမာကဲ့သို့ပင်။ အဘယ်ကြောင့်ဆိုသော် ထို'ရှိုင်တွာန်' မိစ္ဆာကောင်သည် လူသားအား အသင်သည် သွေဖည်ငြင်းပယ်လော့ဟု ပြောဆို(စေခိုင်း)လေ့ရှိ၏။

သို့ စေခိုင်းသည့်အလျောက် ထိုလူသားသည် သွေဖည် ငြင်းပယ်သောအခါ ယင်း 'ရှိုင်တွာန်' မိစ္ဆာကောင်က 'ဧကန်စင်စစ် ငါသည် အသင်နှင့် မည်သို့မျှမပတ်သက်တော့ပြီ။ ဧကန်အမှန် ငါသည် စကြာဝဠာခပ်သိမ်းတို့ကို ဖန်ဆင်းမွေးမြူတော်မူသော အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့သည်' ဟု ပြောဆို(နောက်ဆုတ်)လေသည်။

فَكَانَ عَاقِبَتَهُمَآ اَنَّهُمَا فِى النَّارِ خَالِدَيْنِ فِيْهَا ۗ وَذٰلِكَ جَزٰٓؤُا الظّٰلِمِيْنَ ﴿١٧﴾

၁၇။ သို့ဖြစ်ပေရာ ငင်းတို့နှစ်ဦးစလုံး၏ နောက်ဆုံးအကျိုးမှာ ငင်းတို့နှစ်ဦးသည် ငရဲထဲသို့ရောက်ရှိကြပေမည်။ ငင်းတို့နှစ်ဦးမှာ ယင်းငရဲထဲ၌ အမြဲထာဝစဉ် နေထိုင်ကြရပေမည်။ ဤသည် မတရားပြုလုပ်သောသူတို့၏အကျိုးတည်း။

يٰٓاَيُّهَا الَّذِيْنَ اٰمَنُوا اتَّقُوا اللّٰهَ وَلْتَنْظُرْ نَفْسٌ مَّا قَدَّمَتْ

၁၈။ အို-'မုအ်မင်န်' သက်ဝင်ယုံကြည်သူအပေါင်းတို့၊ အသင်တို့သည် အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ကြလေကုန်။

لِغَدٍۚ وَاتَّقُوا اللّٰهَ ۚ اِنَّ اللّٰهَ خَبِيْرٌۢ بِمَا تَعْمَلُوْنَ ۝١٨

၎င်းပြင် လူတိုင်းလူတိုင်းသည် မနက်ဖြန်အဖို့ မိမိ တင်ကြို ပို့နှင့်ထားသည်ကို ကြည့်ရပေမည်။ ထို့ပြင် အသင်တို့သည် အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ကြလေကုန်။ ဧကန်စင်စစ် အလ္လာဟ်အရှင်မြတ်သည် အသင်တို့ ကျင့်မူသမျှတို့ကို အကြွင်းမဲ့ ကြားသိတော်မူသော အရှင်မြတ်ပင်။ [၁]

وَلَا تَكُوْنُوْا كَالَّذِيْنَ نَسُوا اللّٰهَ فَاَنْسٰىهُمْ اَنْفُسَهُمْ ۗ اُولٰۤىِٕكَ هُمُ الْفٰسِقُوْنَ ۝١٩

၁၉။ ထို့ပြင် အသင်တို့သည် အကြင်သူတို့ကဲ့သို့ မဖြစ်ကြကုန်လင့်၊ ထိုသူတို့သည် အလ္လာဟ်အရှင်မြတ်အား မေ့ပစ်ခဲ့ကြကုန်၏။ သို့ဖြစ်ပေရာ ထိုအရှင်မြတ်သည် ၎င်းတို့အား မိမိတို့ကိုယ်ကိုပင် မေ့ပျောက်စေတော်မူခဲ့၏။ ထိုသူတို့ကား ၎င်းတို့သည်ပင် အမိန့်တော်ကို သွေဖည်သူများ ဖြစ်ကြကုန်၏။

لَا يَسْتَوِيْٓ اَصْحٰبُ النَّارِ وَاَصْحٰبُ الْجَنَّةِ ۗ اَصْحٰبُ الْجَنَّةِ هُمُ الْفَاۤىِٕزُوْنَ ۝٢٠

၂၀။ ငရဲသားတို့နှင့် 'ဂျန္နတ်' သုခဘုံသားတို့သည် တူကြသည် မဟုတ်ပေ။ သုခဘုံသားတို့မှာမူကား အောင်မြင်သူများပင် ဖြစ်ကြကုန်သတည်း။

---

(၁) ဆိုလိုသည်ကား - ကိယာမတ်ဖြစ်မည်မှာ အမှန်ပင်၊ ကိယာမတ်နေ့တွင် စာရင်းအင်းရှင်းရမည်မှာလည်း အမှန်ပင်၊ ကျွန်ုပ်တို့အဆိုးအကောင်း၊ ကျင့်မူဆည်းပူးကြသည်များကို အလ္လာဟ်အရှင်မြတ် အကြွင်းမဲ့ သိတော်မူသည်မှာလည်း အမှန်ပင်၊ သွေဖည်သောသူများ၏ နောက်ဆုံးအကျိုးဆက်ကိုလည်း ကြားသိပြီးပင်၊ သို့ဖြစ်ရာ ကျွန်ုပ်တို့သည် အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ရိုသေခန့်ညားကာ ကုသိုလ်များကို ဆည်းပူးကြရပေမည်။

မနက်ဖြန် ကိယာမတ်နေ့တွင် မိမိအား အကျိုးပြုမည့် ကုသိုလ်များအဘယ်မျှ ပို့နှင့်ထားကြပြီး ဖြစ်သည်ကို လည်းကောင်း၊ မိမိအားအကျိုးယုတ်စေမည့် အကုသိုလ်များ အဘယ်မျှပို့နှင့်ထားပြီး ဖြစ်သည်ကို လည်းကောင်း၊ ဆင်ခြင်သုံးသပ် ကြည့်ကြရမည်။

ယခုကပင် မိမိတို့၏ကုသိုလ်နှင့် အကုသိုလ်စာရင်းများကို မိမိတို့ကိုယ်တိုင် စစ်ဆေးကြရမည်။ အကယ်၍ ကိယာမတ်အတွက် ကုသိုလ် အသင့်အတင့် ပို့ထားပြီးဖြစ်ပါက လိုလိုမယ်မယ် ထပ်မံပို့ထားကြရမည်။ မပို့ရသေးပါက အမြန်ပို့ကြရမည်။

ကုသိုလ်မပို့ရသေးသည့်အပြင် အကုသိုလ်များကိုသာ ပို့ထားမိပါက အချိန်မီ ဝန်ချတောင်းပန်ကာ ကုသိုလ်များပို့နိုင်ရန် ကိုယ်စွမ်းရှိသမျှ ကြိုးပမ်းအားထုတ်ကြရပေမည်။

لَوْ اَنْزَلْنَا هٰذَا الْقُرْاٰنَ عَلٰى جَبَلٍ لَّرَاَيْتَهٗ خَاشِعًا مُّتَصَدِّعًا مِّنْ خَشْيَةِ اللّٰهِ ۭ وَتِلْكَ الْاَمْثَالُ نَضْرِبُهَا لِلنَّاسِ لَعَلَّهُمْ يَتَفَكَّرُوْنَ ۝٢١

هُوَ اللّٰهُ الَّذِيْ لَآ اِلٰهَ اِلَّا هُوَ ۚ عٰلِمُ الْغَيْبِ وَالشَّهَادَةِ ۚ هُوَ الرَّحْمٰنُ الرَّحِيْمُ ۝٢٢

၂၁။ အကယ်၍သာ ငါအရှင်မြတ်သည် ဤကုရ်အာန်ကျမ်းတော်မြတ်ကို တစ်စုံတစ်ခုသောတောင်ပေါ်၌ ချပေးတော်မူခဲ့ပါလျှင် အသင်သည် ထိုတောင်ကို *အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့သောကြောင့် နိမ့်ကျလျက်၊ အပိုင်းပိုင်းဖြစ်လျက်၊ ရှိသည်ကို အမှန်ပင်တွေ့မြင်ရပေမည်။* ① စင်စစ်သော်ကား ငါအရှင်မြတ်သည် လူတို့ သုံးသပ်ဆင်ခြင် စဉ်းစားကြအံ့သောငှာ ယင်းဥပမာပုံဆောင်ချက်များကို ခိုင်းနှိုင်းဖော်ပြတော်မူ၏။

၂၂။ ထိုအရှင်မြတ်သည်ပင် အကြင် အလ္လာဟ်အရှင်မြတ်ဖြစ်တော်မူ၏။ ထိုအရှင်မြတ်မှတစ်ပါး ခယရိုကျိုးဆည်းကပ်ကိုးကွယ်ရာဟူ၍ အလျှင်းမရှိပြီ။ လျှို့ဝှက်စွာ ရှိသည်တို့ကိုလည်းကောင်း၊ ထင်ရှားစွာ ရှိသည်တို့ကိုလည်းကောင်း၊ သိတော်မူသောအရှင် ဖြစ်တော်မူ၏။ ထိုအရှင်မြတ်သည်ပင် မဟာကရုဏာတော်ရှင်၊ အလွန်တရာ ကြင်နာ သနားတော်မူသောအရှင်၊ ဖြစ်တော်မူ၏။

---

① **ကုရ်အာန်ကျမ်းမြတ်၏ တန်ခိုး။**

ကုရ်အာန်ကျမ်းမြတ်၏ တန်ခိုးအာနိသင်ကား ကြီးမားလှ၏။ ထက်မြက်လှ၏။ ထိရောက်လှ၏။ ကုရ်အာန်ကျမ်းမြတ်သည် မိမိ၏တန်ခိုးအာနိသင်ဖြင့် အခါခပ်သိမ်း ပြည့်စုံလျက် ရှိနေသည်သာဖြစ်၏။

အချို့လူသားတို့၏ စိတ်နှလုံးသားပေါ်၌ ကုရ်အာန်ကျမ်းမြတ်၏ တန်ခိုးအာနိသင် မပေါ်လွင်ခြင်းမှာ ကုရ်အာန်ကျမ်းမြတ်၏ အပြစ်မဟုတ်၊ သက်ဆိုင်ရာ ပုဂ္ဂိုလ်၏နှလုံးသားအပေါ်၌ အမိုက်မှောင် အထပ်ထပ် ကာဆီးလျက်ရှိနေခြင်းကြောင့်သာဖြစ်သည်။

အကယ်၍ အလ္လာဟ်အရှင်မြတ်သည် ကုရ်အာန်ကျမ်းမြတ်ကို မြင့်မောက်မာကျောသော တောင်တစ်လုံးအပေါ်၌ ချပေးသော်မူခဲ့ပါသော်၊ ယင်းတောင်၌ အသိတရားလည်း ရှိနေပါသော်၊ အဆိုပါ မြင့်မောက်မာကျောလျက်ရှိသော တောင်ကြီးသည်ပင်လျှင် အလ္လာဟ်အရှင်မြတ်၏ အတိုင်းမသိကြီးမားလှဘိသော အရှိန်အဝါ၏ ရှေ့မှောက်တွင် ကျိုးနွံနိမ့်ကျသွားပေမည်။ ထိုအရှင်မြတ်အား ကြောက်ရွံ့ကာ အပိုင်းပိုင်း အစစ ကြေမွသွားပေမည်။

ဤသည့်သဘောနှင့်ဆက်စပ်၍ ကုရ်အာန် (၂:၇၄)ကို ဆင်ခြင်ပါကုန်။

هُوَ اللّٰهُ الَّذِيْ لَآ اِلٰهَ اِلَّا هُوَ ۚ اَلْمَلِكُ الْقُدُّوْسُ السَّلٰمُ الْمُؤْمِنُ الْمُهَيْمِنُ الْعَزِيْزُ الْجَبَّارُ الْمُتَكَبِّرُ ۭ سُبْحٰنَ اللّٰهِ عَمَّا يُشْرِكُوْنَ ﴿٢٣﴾

၂၃။ ထိုအရှင်မြတ်သည်ပင် အကြင် အလ္လာဟ် အရှင်မြတ် ဖြစ်တော်မူ၏။ ထိုအရှင်မြတ်မှတစ်ပါး ခယရိုကျိုး ဆည်းကပ်ကိုးကွယ်ရာဟူ၍ အလျှင်းမရှိပြီ။ စိုးမိုး အုပ်ချုပ်တော်မူသောဘုရင်၊ စင်ကြယ်သန့်ရှင်း အပြစ် ကင်းတော်မူသောအရှင်၊ ချွတ်ယွင်းချက်တို့မှ ကင်းစင်တော်မူသောအရှင်၊ ငြိမ်းချမ်းမှုပေးတော်မူသော အရှင်၊ ထိန်းသိမ်း စောင့်ရှောက်တော်မူသောအရှင်၊ ခန့်ညားတော်မူသောအရှင်၊ သြဇာအာဏာလွှမ်းမိုးတော် မူသောအရှင်၊ ဂုဏ်သိက္ခာ ကြီးကဲမြင့်မြတ်တော်မူသော အရှင်၊ ဖြစ်တော်မူ၏။ အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့ တွဲဖက် နှိုင်းယှဉ် ကိုးကွယ်ကြသည်တို့မှ စင်ကြယ် သန့်ရှင်းတော်မူဘိ၏။

هُوَ اللّٰهُ الْخَالِقُ الْبَارِئُ الْمُصَوِّرُ لَهُ الْاَسْمَآءُ الْحُسْنٰى ۭ يُسَبِّحُ لَهٗ مَا فِي السَّمٰوٰتِ وَالْاَرْضِ ۚ وَهُوَ الْعَزِيْزُ الْحَكِيْمُ ﴿٢٤﴾

၂၄။ ထိုအရှင်မြတ်သည်ပင် ဖန်ဆင်းတော်မူသော အကောင်အထည်ဖော်တော်မူသော (မရှိရာမှ ရှိအောင် ပြုလုပ် ဖန်ဆင်းတော်မူသော) ပုံသဏ္ဍာန် ပြုလုပ်တော် မူသော အလ္လာဟ်အရှင်မြတ် ဖြစ်တော်မူ၏။ ထိုအရှင် မြတ်၌ ကောင်းမြတ်လှစွာသော နာမံဂုဏ်တော်များ ရှိကုန်၏။ မိုးကောင်းကင်များ၌ ရှိသမျှတို့သည် လည်းကောင်း၊ ပထဝီမြေ၌ရှိသမျှတို့သည် လည်း ကောင်း၊ ထိုအရှင်မြတ် စင်ကြယ်သန့်ရှင်းတော်မူ ကြောင်းကို မြွက်ဆိုလျှက်ရှိကြကုန်၏။ ထိုမှတစ်ပါး ထိုအရှင်မြတ်သည်ပင် လွန်စွာခန့်ညားတော်မူသော အရှင်၊ သိမ်မွေ့လှစွာသော ဆင်ခြင်တုံတရားနှင့် ပြည့်စုံ တော်မူသောအရှင်၊ ဖြစ်တော်မူပေသတည်း။ [၁]

---

(၁) **အလ္လာဟ်အရှင်မြတ်၏ ဂုဏ်တော်များ။**

အလ္လာဟ်အရှင်မြတ်၏ ဂုဏ်တော်များကား ကြီးကဲမွန်မြတ်ရာ၌ အလွန်များပေသတည်း။ ထိုအရှင်မြတ်မှတပါး အခြားကိုးကွယ်ရာဟူ၍ အလျှင်းမရှိ။ ထိုအရှင်မြတ် တစ်ပါးတည်းသာလျှင် ကိုးကွယ်မှု အစုစုကို ခံထိုက်တော်မူသည်။ ထိုအရှင်မြတ်သည် အရာခပ်သိမ်းကုန်တို့ကို ကြွင်းမဲ့ဥဿုံ အလုံးစုံ ➤➤

➤➤ သိတော်မူသည်။ လျှို့ဝှက်လျက်ရှိသည်တို့ကိုလည်း သိတော်မူသည်။ ထင်ရှားလျက်ရှိသည်တို့ကိုလည်း သိတော်မူသည်။ ထိုအရှင်မြတ်သည် အလွန့်အလွန် ကြင်နာတော်မူသည်၊ အထူးသနားတော်မူသည်။ ထိုအရှင်မြတ်သည် ယှဉ်ပြိုင်ဘက်ကင်းတော်မူသော၊ တစ်ပါးတည်းသော ဘုရင်အစစ်ဖြစ်ခြင်းကြီး ဖြစ်တော်မူသည်။ ထိုအရှင်မြတ်သည် စင်ကြယ်သန့်ရှင်း အပြစ်ကင်းတော်မူသည်၊ ချို့တဲ့မှုအပေါင်းမှ ကင်းစင်တော်မူသည်၊ ငြိမ်းချမ်းမှုကို ပေးသနား တော်မူသည်၊ ထိုအရှင်မြတ်သည် ယှဉ်ပြိုင်ဘက်ကင်းတော်မူသော၊ တစ်ပါးတည်းသော ဘုရင်အစစ် ဖြစ်ခြင်းကြီး ဖြစ်တော်မူသည်၊ ထိုအရှင်မြတ်သည် စင်ကြယ်သန့်ရှင်း အပြစ် ကင်းတော်မူသည်၊ ထိန်းသိမ်းစောင့်ရှောက် တော်မူသည်၊ နိုင်နင်းလွှမ်းမိုးတော်မူသည်၊ ချွတ်ယွင်းမှုများကို ပြုပြင်ပေးတော်မူသည်၊ အတိုင်းမသိ ကြီးကဲ မြင့်မြတ်တော်မူသည်၊ အယူလွဲမှားနေသူများ၏ ယှဉ်တွဲကိုးကွယ်မှုများနှင့် လုံးဝ သန့်ရှင်းတော်မူသည်။

ထိုအရှင်မြတ်သည်ပင် အရာခပ်သိမ်းကုန်တို့ကို ဖန်ဆင်းတော်မူသည်။ သင့်မြတ်စွာ စီမံဖန်တီးတော်မူသည်။ ထိုအရှင်မြတ်သည်ပင်လျှင် အရာရာ၏ ပုံပန်းသဏ္ဍာန်များကို လျော်ကန်စွာ ပြုလုပ်ထားတော်မူသည်။

ထိုထိုသော ဂုဏ်တော်များအပြင်၊ ထိုအရှင်မြတ်၌ အတိုင်းမသိ မြင့်မြတ်လှဘိသော ဂုဏ်တော်များမှာ အများအပြား ရှိပေသေးသည်။ ယင်းသို့ ဂုဏ်တော်ကြီးများနှင့် ပြည့်စုံခြင်းကြီးမကြ ပြည့်စုံတော်မူလှသည့် အတွက်ကြောင့်ပင် မိုး၊ မြေနှင့်တကွ ဤလောကဓာတ်ကြီး တစ်ခုလုံးရှိ အရာခပ်သိမ်းကုန်တို့သည် ထိုအရှင်မြတ်အား ကိုယ်နှုတ်၊ ကိုယ့်ဟန်ဖြင့် ဂုဏ်တော်မွမ်းလျက် ရှိကြကုန်သည်။

အချုပ်ဆိုရသော် အလ္လာဟ်အရှင်မြတ်သည် တန်ခိုးတော်ကြီးမြတ်ခြင်း၊ ဉာဏ်တော်မြင့်မြတ်ခြင်းနှင့် ပြည့်စုံတော်မူလှဘိသော တစ်ဆူတည်းသော အကြီးကဲဆုံး တန်ခိုးတော်ရှင်ဖြစ်ခြင်းကြီးမကြ ဖြစ်တော်မူပေသည်။

ထိုအရှင်မြတ်၏ ဂုဏ်တော်များကား အတိုင်းမသိ ကြီးမားများပြားလှပါဘိတကား။

<u>**မှတ်ချက်။**</u>

ဤကဏ္ဍ၏ အဆုံးတွင် လာရှိသော အာယတ်တော်သုံးပါး (၅၉း၂၂-၂၄) ကိုရွတ်ဖတ်သရဇ္ဈာယ်ပါက၊ ယင်းအာယတ်တော်များ၏ အနက်သဘောများကို နှလုံးသွင်းပါက မြောက်မြားစွာသော အကျိုးထူးများကို ခံစားရမည့်အကြောင်း တမန်တော်မြတ်က ဟောကြားတော်မူခဲ့လေသည်။

# စစ်ဆေးခြင်းကဏ္ဍ




ဤကဏ္ဍသည် 'မွမ်တဟိနဟ်' စစ်ဆေးခြင်း ကဏ္ဍမည်၏။ မဒီနာမြို့၌ ကျရောက်ခဲ့၏။ ဤကဏ္ဍတွင် အာယတ်တော် (၁၃)ပါးနှင့် ရကူအ်အပိုဒ် (၂)ပိုဒ် အသီးသီးပါရှိ၏။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ ○

မပြတ်မစဲ သနားကြင်နာ ညှာတာတော်မူသော၊ မဟာကရုဏာတော်ရှင် ဖြစ်တော်မူသော၊ အလ္လာဟ်အရှင်မြတ်၏ နာမံတော်ဖြင့် အစပြုပါ၏။

يٰۤاَيُّهَا الَّذِيْنَ اٰمَنُوْا لَا تَتَّخِذُوْا عَدُوِّيْ وَعَدُوَّكُمْ اَوْلِيَآءَ تُلْقُوْنَ اِلَيْهِمْ بِالْمَوَدَّةِ وَقَدْ كَفَرُوْا بِمَا جَآءَكُمْ مِّنَ الْحَقِّ ۚ يُخْرِجُوْنَ الرَّسُوْلَ وَاِيَّاكُمْ اَنْ تُؤْمِنُوْا بِاللّٰهِ رَبِّكُمْ ؕ اِنْ كُنْتُمْ خَرَجْتُمْ جِهَادًا فِيْ سَبِيْلِيْ وَابْتِغَآءَ مَرْضَاتِيْ ۗ تُسِرُّوْنَ اِلَيْهِمْ بِالْمَوَدَّةِ ۖ وَاَنَا اَعْلَمُ بِمَاۤ اَخْفَيْتُمْ وَمَاۤ اَعْلَنْتُمْ ؕ وَمَنْ يَّفْعَلْهُ مِنْكُمْ فَقَدْ ضَلَّ سَوَآءَ السَّبِيْلِ ①

၁။ အို-'မုအ်မင်န်' သက်ဝင်ယုံကြည်သူအပေါင်းတို့၊ အကယ်၍ အသင်တို့သည် ငါအရှင်မြတ်၏ လမ်းတော်၌ သက်စွန့်ကြိုးပမ်း ဆောင်ရွက်ခြင်းငှာလည်းကောင်း၊ ငါအရှင်မြတ်၏ နှစ်မြို့ကျေနပ်မှုကို ဆည်းပူးအံ့သောငှာလည်းကောင်း၊ ထွက်ခဲ့ကြသည်ဖြစ်မူ၊ အသင်တို့သည် ငါအရှင်မြတ်၏ရန်သူကိုလည်းကောင်း၊ မိမိတို့၏ ရန်သူကိုလည်းကောင်း၊ အဆွေခင်ပွန်းများ မပြုကြကုန်လင့်။

အသင်တို့သည် ခင်မင်မှုကြောင့် ၎င်းတို့ထံ (လျှို့ဝှက်သတင်းကို) ပို့ကြကုန်၏။ အမှန်စင်စစ်သော်ကား ၎င်းတို့သည် အသင်တို့ထံ ရောက်ရှိလာသော အမှန်တရားကို ငြင်းပယ်ခဲ့ကြလေ၏။ ထိုသူတို့သည် ရစူလ်တမန်တော်မြတ်အား နှင်ထုတ်ခဲ့ကြသည်။ ၎င်းပြင် အသင်တို့သည် မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသောအလ္လာဟ်အရှင်မြတ်အား သက်ဝင်ယုံကြည်ခဲ့ကြသောကြောင့် ၎င်းတို့သည် အသင်တို့ကိုလည်း နှင်ထုတ်ခဲ့ကြလေ၏။

အသင်တို့သည် ခင်မင်မှုကြောင့် ၎င်းတို့ထံ လျှို့ဝှက်(သတင်းကို) ပို့ဆောင်ကြငြားလည်း ငါအရှင်

မြတ်မှာမူကား အသင်တို့ လျှို့ဝှက်သမျှတို့ကိုလည်း ကောင်း၊ အသင်တို့ ထင်ရှားစေသမျှတို့ကိုလည်း ကောင်း၊ အသိတော်မူဆုံးပင် ဖြစ်တော်မူ၏။

စင်စစ်သော်ကား အသင်တို့အနက် မည်သူမဆို ယင်းလျှို့ဝှက်သတင်း ပို့ဆောင်ခြင်းကို ကျူးလွန်ပါမူ ထိုသူသည် ဧကန်မလွဲ ဖြောင့်မတ်သော လမ်းစဉ်မှ တိမ်းပါး လွဲချော်၍ သွားခဲ့လေပြီ။ ၁

---

(၁) <u>နောက်ခံဖြစ်ရပ်၊</u>

တမန်တော်မြတ်သည် မက္ကာမြို့သားများနှင့် စစ်ပြေငြိမ်းရေးစာချုပ် ချုပ်ဆိုထားတော်မူခဲ့၏။

(ဤအကြောင်း ကုရ်အာန်ကျမ်းမြတ်၏ ကဏ္ဍစဉ်(၄၈)မြောက်ဖြစ်သော "အောင်နိုင်ခြင်း" ကဏ္ဍ၏ အစတွင်ပါရှိ၏။ သက်ဆိုင်ရာ အဖွင့်များကိုလည်း အကျယ်ရေးသားခဲ့ပေပြီ)။

အဆိုပါ စစ်ပြေငြိမ်းရေး စာချုပ်သည် (၂) နှစ်ခန့်ပင် တည်ရှိခဲ့၏။ ထို့နောက်တွင် ကာဖိရ်များကပင် စတင်၍အဆိုပါစာချုပ်ကို ချိုးဖောက်ခဲ့ကြ၏။ ထိုအခါ တမန်တော်မြတ်သည် မက္ကာမြို့တော်ကို ပြန်လည် သိမ်းပိုက်ရန် အလို့ငှာ လျှို့ဝှက်စွာ စစ်ရေးစစ်ရာများကို စီစဉ်နေတော်မူခဲ့၏။ သတင်းမပေါက်ကြားစေရန်လည်း အထူးတလည် ပိတ်ပင်ထားတော်မူခဲ့၏။

သတင်းပေါက်ကြားသွားပါက မက္ကာမြို့သား ကာဖိရ်များသည် ယှဉ်ပြိုင်ရင်ဆိုင် တိုက်ခိုက်နိုင်ရန် ကြိုတင်စီစဉ်ကြပေမည်။ ယင်းသို့ ကြိုတင်စီစဉ်ကြပါက မက္ကာမြို့တော်ရှိ ကျောင်းတော် ပရဝဏ်ဝင်းခြံအတွင်း၌ စစ်ဖြစ်ပွားရပေမည်။ ဤသည်ကို တမန်တော်မြတ်သည် လားလားမျှလိုလားတော်မမူခဲ့ပေ။ ထို့အတွက်ကြောင့်ပင် တမန်တော်မြတ်သည် မိမိ၏အစီအစဉ်ကို အထူးလျှို့ဝှက်စွာဖြင့် ပြုလုပ်နေတော်မူခဲ့၏။

ထိုအချိန်တွင် ဟာတွိဗ်အိဗ်နုအဗီဗလ်တအဟ်သည် တမန်တော်မြတ်၏ အစီအစဉ်နှင့်စပ်လျဉ်း၍ မက္ကာမြို့သားများအား အသိပေးရန် လျှို့ဝှက်စာရေး၍ အမျိုးသမီးတစ်ဦးအား မက္ကာမြို့သားများထံ စေလွှတ်ခဲ့၏။

ဟာတွိဗ်သည် ယမန်ပြည်သားတစ်ဦးဖြစ်ခဲ့၏။ မက္ကာမြို့တွင် လာရောက်နေထိုင်ခဲ့၏။ အစ္စလာမ်ကို သက်ဝင်ယုံကြည်ခဲ့၏။ အခြားမွတ်စ်လင်မ်များနည်းတူ မက္ကာမြို့တော်မှ မဒီနာမြို့သို့ ရွှေ့ပြောင်းလာခဲ့၏။ (ဗဒရ်)စစ်ပွဲတွင်လည်း ပါဝင်ခဲ့၏။

တမန်တော်မြတ်သည် 'ဝဟီ' ဖြင့် ဟာတွိဗ်၏အကြံအစည်ကို သိရှိတော်မူရာ သာဝကကြီးအလီနှင့် တကွ အချို့သာဝကများအားခေါ်၍ 'အမျိုးသမီးတစ်ဦးသည် မက္ကာမြို့တော်သို့ဦးတည်၍ ခရီးသွားနေသည်၊ အသင်တို့သည် ထိုအမျိုးသမီးကို 'ခါခ်' အမည်ရှိသောစခန်းတွင် မီကြမည်၊ ထိုအမျိုးသမီးထံ၌ လျှို့ဝှက်စာ တစ်စောင် ပါရှိသည်၊ အသင်တို့သည် ထိုအမျိုးသမီးထံမှ အဆိုပါလျှို့ဝှက်စာကို ယူဆောင်လာခဲ့ကြ'ဟု မိန့်ကြား စေလွှတ်တော်မူလိုက်လေသည်။

သာဝကကြီးများသည် တမန်တော်မြတ်ညွှန်ကြားတော်မူသည့်အတိုင်း အဆိုပါအမျိုးသမီးနောက်သို့ မြင်းစီး၍ အမြန်လိုက်လာခဲ့ကြရာ၊ တမန်တော်မိန့်ကြားတော်မူသည့် နေရာ၌ပင် အဆိုပါအမျိုးသမီးကို ➤➤

إِن يَثْقَفُوكُمْ يَكُونُوا لَكُمْ أَعْدَاءً وَيَبْسُطُوا إِلَيْكُمْ أَيْدِيَهُمْ

၂။ အကယ်၍ ၎င်းတို့သည် အသင်တို့အပေါ်၌ အရေးသာခဲ့ကြလျှင် အသင်တို့၏ ရန်သူဖြစ်ကြောင်းကိုသာ ပေါ်လွင်စေကြသည့်ပြင် မိမိတို့လက်များဖြင့်လည်းကောင်း၊ မိမိတို့ နှုတ်များဖြင့်လည်းကောင်း၊

▶▶ မီလာခဲ့ကြ၏။ ပထမသော် အဆိုပါအမျိုးသမီးသည် မိမိ၌တစ်စုံတစ်ရာ မပါရှိကြောင်း ငြင်းကွယ်နေခဲ့၏။ နောက်ဆုံးတွင် အဆိုပါ အမျိုးသမီးသည် မိမိ၏ဆံထုံးအတွင်းတွင် လျှို့ဝှက်ထားသောစာကို ထုတ်ပေးခဲ့၏။ သာဝကကြီးများသည် ထိုစာကိုယူဆောင်၍ တမန်တော်မြတ်အား ပေးအပ်ခဲ့ကြ၏။ အဆိုပါစာတွင် ဟာတွိဗ်က မက္ကာမြို့သားများအား တမန်တော်မြတ်သည် မကြာမီအတွင်း အလွန်ကြီးမားများပြားသော ရဲဘော်ရဲဘက်အင်အားဖြင့် မက္ကာမြို့တော်ကို သိမ်းပိုက်တော်မူမည့်အကြောင်း အသိပေးထားသည်။

တမန်တော်မြတ်သည် ဟာတွိဗ်အားခေါ်၍ မေးမြန်းတော်မူရာ၊ ဟာတွိဗ်က 'တမန်တော်မြတ် ကျွန်တော်သည် အစ္စလာမ်မှ ဖောက်ပြန်သည်လည်းမဟုတ်ပါ၊ (ကုဖ်ရ်)သွေဖည်မှုကို နှစ်သက်သည်လည်း မဟုတ်ပါ။ အမှန်မှာ ကျွန်တော်၏အိမ်သူအိမ်သားများသည် မက္ကာမြို့တော်တွင် ရှိနေကြပါသည်။ မက္ကာမြို့တော်တွင် ကျွန်တော်၏ အိမ်သူအိမ်သားများအား ငဲ့ညှာထောက်ထားရန် ဆွေမျိုးသားချင်းဟူ၍ တစ်ဦးတစ်ယောက်မျှလည်း မရှိပါ။ မက္ကာမြို့သားများအား ယခုကဲ့သို့ လျှို့ဝှက်စွာအသိပေးခြင်းမှာ ကျွန်တော်၏ အိမ်သူအိမ်သားများအား ငဲ့ညှာထောက်ထားကြစေရန်ပင် ဖြစ်ပါသည်။ ယင်းသို့ပြုခြင်းအားဖြင့် ကျွန်တော်၌လည်း အနည်းငယ်အကျိုးရှိမည်၊ အစ္စလာမ်၌လည်း တစ်စုံတစ်ရာ ဆုံးရှုံးမှုရှိမည်မဟုတ်ဟူ၍ ထင်မိပါသည်။ အောင်နိုင်မှုနှင့်စပ်လျဉ်း၍ တမန်တော်မြတ်အား အလ္လာဟ်အရှင်မြတ်က ပြုထားတော်မူသည့် ကတိတော်များသည် မုချအတည်ဖြစ်မည်သာ ဖြစ်ပါသည်။ မည်သူမျှဟန့်တားနိုင်မည်လည်း မဟုတ်ပါ'ဟု လျှောက်ထားခဲ့လေသည်။

မက္ကာမြို့သားများထံ ဟာတွိဗ်၏ပေးစာတွင်

"ကျွန်ုပ်သည် အလ္လာဟ်အရှင်မြတ်အား တိုင်တည်၍ ရေးသားအံ့၊ အကယ်၍ တမန်တော်မြတ်တစ်ပါးတည်းပင် အသင်တို့ကို တိုက်ခိုက်တော်မူပါကလည်း အလ္လာဟ်အရှင်မြတ်သည် တမန်တော်မြတ်အား မုချကူညီတော်မူမည်သာဖြစ်သည်။ ထိုအရှင်မြတ်သည် တမန်တော်မြတ်အား ပြုထားတော်မူသည့် ကတိတော်များကို ပြီးမြောက်ပြည့်စုံအောင် ပြုလုပ်တော်မူမည်သာဖြစ်သည်" ဟူ၍ ရေးသားဖော်ပြထားခဲ့ပေသည်။

အသို့ပင်ရှိစေ၊ ဤသည်ဟာတွိဗ်၏ မဟာအမှားကြီးပင်။ ယင်းသို့ မဟာအမှားကြီးမှားခဲ့သော ဟာတွိဗ်နှင့်ပတ်သက်၍ မွတ်စ်လင်မ်များသည် အထူးပင် မကျေမနပ်ဖြစ်ခဲ့ကြသည်။

သာဝကကြီး အုမရ်ကမူ မိမိ၏စိတ်ကို မချုပ်တီးနိုင်တော့ဘဲ "တမန်တော်မြတ်၊ ကျွန်တော်အား ခွင့်ပြုတော်မူပါ၊ ကျွန်တော်သည် ဤသူ့ကို ဇဗဟ်လုပ်ပါရစေ"ဟူ၍ပင် မေတ္တာရပ်ခံခဲ့လေသည်။

ထိုအခါ တမန်တော်မြတ်က မွတ်စ်လင်မ်များအား အသင်တို့သည် ဟာတွိဗ်နှင့်ပတ်သက်၍ အလျင်စလို မပြုကြနှင့်၊ ကောင်းသည်မှတပါး အခြားမပြောကြကုန်လင့်၊ သူသည် ဗဒ်ရ်စစ်ပွဲတွင် ပါဝင်ဆင်နွှဲခဲ့သည်။ အလ္လာဟ်အရှင်မြတ်သည် ဗဒ်ရ်စစ်ပွဲတွင် ပါဝင်ဆင်နွှဲခဲ့ကြသော ပုဂ္ဂိုလ်များအား လွတ်ငြိမ်းခွင့်ပြုထားတော်မူသည်"ဟု မိန့်ကြားတော်မူခဲ့လေသည်။ ဤကဏ္ဍလာ များစွာသော အာယတ်တော်များသည် ဤဖြစ်ရပ်နှင့် ဆက်စပ်လျက် ရှိပေသည်။ ကြည့်-အွတ်ဆ်မာနီ၊ အိဗ်နုကဆီရ်၊ ထာနဝီ။

وَأَلْسِنَتَهُم بِالسُّوٓءِ وَوَدُّوا
لَوْ تَكْفُرُونَ ﴿٢﴾

အသင်တို့အား ဒုက္ခပေးကြမည်သာ။ ထို့ပြင် ၎င်းတို့သည် အသင်တို့ "ကာဖိရ်" သွေဖည်ငြင်းပယ်သူများ ဖြစ်ကြရန်လည်း လိုလားတောင့်တကြပေသည်။

لَن تَنفَعَكُمْ أَرْحَامُكُمْ
وَلَآ أَوْلَادُكُمْ ۚ يَوْمَ الْقِيَامَةِ ۚ
يَفْصِلُ بَيْنَكُمْ ۚ وَاللَّهُ بِمَا تَعْمَلُونَ
بَصِيرٌ ﴿٣﴾

၃။ အသင်တို့၏ ဆွေမျိုးနီးစပ်မှုတို့သည်လည်းကောင်း၊ အသင်တို့၏ သားသမီးတို့သည်လည်းကောင်း၊ 'ကိယာမတ်' ရှင်ပြန်ထမြောက်မည့်နေ့တွင် အသင်တို့အား အလျှင်း အကျိုးပေးကြမည်မဟုတ်ပေ။ ထိုအရှင်မြတ်သည် အသင်တို့၏အကြား၌ စီရင်ဆုံးဖြတ်တော်မူမည်ဖြစ်၏။ အမှန်သော်ကား အလ္လာဟ်အရှင်မြတ်သည် အသင်တို့ ကျင့်မူသမျှတို့ကို အကြွင်းမဲ့ သိမြင်တော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

قَدْ كَانَتْ لَكُمْ أُسْوَةٌ حَسَنَةٌ
فِي إِبْرَاهِيمَ وَالَّذِينَ مَعَهُ ۚ
إِذْ قَالُوا لِقَوْمِهِمْ إِنَّا بُرَآءُ
مِنكُمْ وَمِمَّا تَعْبُدُونَ مِن دُونِ
اللَّهِ كَفَرْنَا بِكُمْ وَبَدَا بَيْنَنَا
وَبَيْنَكُمُ الْعَدَاوَةُ وَالْبَغْضَاءُ أَبَدًا
حَتَّىٰ تُؤْمِنُوا بِاللَّهِ وَحْدَهُ
إِلَّا قَوْلَ إِبْرَاهِيمَ لِأَبِيهِ
لَأَسْتَغْفِرَنَّ لَكَ وَمَا أَمْلِكُ لَكَ

၄။ ဧကန်အမှန် အသင်တို့အဖို့ (နဗီတမန်တော်) 'အီဗ်ရာဟီမ်' ၌လည်းကောင်း၊ ထို(နဗီတမန်တော်) အီဗ်ရာဟီမ်နှင့် အတူရှိခဲ့ကြသော သူတို့၌လည်းကောင်း၊ မွန်မြတ်လှစွာသော စံနမူနာသည်ရှိပေသည်။

တစ်ရံရောအခါဝယ် ၎င်းတို့သည် မိမိတို့၏ အမျိုးသားတို့အား (ဤသို့) ပြောကြားခဲ့ကြကုန်၏။ ဧကန်စင်စစ် ကျွန်ုပ်တို့သည် အသင်တို့နှင့်လည်းကောင်း၊ အလ္လာဟ်အရှင်မြတ်အပြင် အသင်တို့ ဆည်းကပ် ကိုးကွယ်ကြသောအရာများနှင့်လည်းကောင်း၊ မပတ်သက်သူများပင် ဖြစ်ကြ၏။ ကျွန်ုပ်တို့သည် အသင်တို့အား ငြင်းပယ်လိုက်ကြပြီ။

အသင်တို့သည် တစ်ဆူတည်းသော အလ္လာဟ်အရှင်မြတ်အား မယုံကြည်သမျှ ကာလပတ်လုံး ကျွန်ုပ်တို့နှင့် အသင်တို့၏အကြား၌ရန်ငြိုးသည်လည်းကောင်း၊

مِنَ اللّٰهِ مِنْ شَيْءٍ ۗ رَبَّنَا عَلَيْكَ تَوَكَّلْنَا وَإِلَيْكَ أَنَبْنَا وَإِلَيْكَ الْمَصِيرُ ④

*မုန်းတီးမှုသည်လည်းကောင်း၊ အမြဲမပြတ် ဖြစ်ပေါ် လျက် ရှိနေမည်သာ။* ① သို့ရာတွင် (နဗီတမန်တော်) အီဗ်ရာဟီဗ်သည် မိမိ၏ဖခင်အား 'မုချဧကန် ကျွန်ုပ်သည် အသင့်အဖို့ လွတ်ငြိမ်းချမ်းသာခွင့်ကို ပန်ကြားမည်။ စင်စစ်သော်ကား အလ္လာဟ်အရှင်မြတ်၏ ရှေ့တော်မှောက်ဝယ် အသင်နှင့်ပတ်သက်၍ ကျွန်ုပ် တစ်စုံတစ်ရာမျှပင် အခွင့်အာဏာပိုင်ဆိုင်ခြင်း မရှိပြီ' ဟူသော(နဗီတမန်တော်) 'အီဗ်ရာဟီမ်'၏ ပြောဆို (ကတိပြု)ချက်မှတစ်ပါး (ယင်းသည့်အချက်ကိုမူကား အသင်တို့သည် လိုက်နာခြင်း မပြုကြရ)။

အို-ကျွန်တော်မျိုးတို့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်၊ ကျွန်တော်မျိုးတို့သည် အရှင်မြတ် အပေါ်၌သာလျှင် ယုံပုံ လွှဲအပ်ကြပါပြီ။ ၎င်းပြင် ကျွန်တော်မျိုးတို့သည် အရှင်မြတ်ဘက်သို့ သာလျှင် ပြန်လှည့်ကြပါပြီ။ ထိုမှတစ်ပါး နောက်ဆုံး ပြန်လည်ရာ စခန်းမှာ အရှင်မြတ်အထံတော်၌ပင် ဖြစ်ပါသည်။

---

① **<u>တမန်တော်အီဗ်ရာဟီမ်၏စံနမူနာ</u>**

တမန်တော် အီဗ်ရာဟီမ်(အလိုင်ဟစ္စလာမ်)သည် ကာဖိရ်များနှင့်ဆက်ဆံရာတွင် အလွန်တရာမျှ ပြတ်သားတော်မူခဲ့၏။ တမန်တော် အီဗ်ရာဟီမ်ပြတ်သားတော်မူသကဲ့သို့ (အီမာန်) သက်ဝင်ယုံကြည်ရာတွင် လည်းကောင်း၊ အမိန့်တော်နာခံရာတွင် လည်းကောင်း၊တမန်တော်အီဗ်ရာဟီမ်၏ လမ်းစဉ်ကို ဖဝါးခြေထပ် လိုက်နာခဲ့ကြသော တမန်တော်အီဗ်ရာဟီမ်၏ နောက်လိုက်တပည့်သားတို့သည်လည်း ပြတ်သားခဲ့ကြပေသည်။

ဥပမာ-၎င်းတို့က ကာဖိရ်များအား 'ငါတို့သည် အသင်တို့နှင့်လည်း မပတ်သက်ကြ၊ အသင်တို့၏ ကိုးကွယ်ရာများနှင့်လည်း မပတ်သက်ကြ။ မပတ်သက်ကြသည်သာမက ငါတို့သည် အသင်တို့ကိုလည်း ဆန့်ကျင်ကြသည်၊ အသင်တို့၏ ကိုးကွယ်ရာများကိုလည်း ဆန့်ကျင်ကြသည်။

ရှင်းရှင်းပြောရလျှင် ငါတို့နှင့် အသင်တို့၏စပ်ကြားတွင် ရန်ငြိုးထားမှု၊ မလိုမုန်းတီးမှုများသည် အမြဲတစေ ပေါက်ပွား၊ ထင်ရှားလျက်ရှိချေပြီ။ အသင်တို့သည် ငါတို့ကဲ့သို့ တစ်ဆူတည်းသော် အလ္လာဟ် အရှင်မြတ်အား မယုံကြည်ကြသမျှကာလပတ်လုံး ဤရန်ငြိုးထားမှု၊ မလိုမုန်းတီးမှုများသည် တည်ရှိနေမည်သာ ဖြစ်သည်'ဟု ပြတ်သားစွာ ကြေညာခဲ့ကြလေသည်။ ဤသည် မွတ်စ်လင်မ်တို့ အဖို့ စံနမူနာပင်။

رَبَّنَا لَا تَجْعَلْنَا فِتْنَةً لِّلَّذِينَ كَفَرُوا وَاغْفِرْ لَنَا رَبَّنَا إِنَّكَ أَنتَ الْعَزِيزُ الْحَكِيمُ ⑤

၅။ အို-ကျွန်တော်မျိုးတို့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်၊ အရှင်မြတ်သည် ကျွန်တော်မျိုးတို့အား 'ကာဖိရ်' သွေဖည်ငြင်းပယ်သူတို့၏ ဖိစီးနှိပ်စက်မှု ခံကြသောသူများ ပြုလုပ်တော်မမူပါနှင့်။ ထိုမှတစ်ပါး အရှင်မြတ်သည် ကျွန်တော်မျိုးတို့၏ (ပြစ်မှုဒုစရိုက်များ)ကို ခွင့်လွှတ်ချမ်းသာ ပေးတော်မူပါ။

အို-ကျွန်တော်မျိုးတို့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်၊ ဧကန်မလွဲ အရှင်မြတ်သည်သာလျှင် အလွန်တရာ ခန့်ညားတော်မူသောအရှင်၊ သိမ်မွေ့သော ဆင်ခြင်တုံတရားနှင့် ပြည့်စုံတော်မူသောအရှင်၊ ဖြစ်တော်မူပါ၏။ [၁]

لَقَدْ كَانَ لَكُمْ فِيهِمْ أُسْوَةٌ حَسَنَةٌ لِّمَن كَانَ يَرْجُو اللَّهَ وَالْيَوْمَ الْآخِرَ ۚ وَمَن يَتَوَلَّ فَإِنَّ اللَّهَ هُوَ الْغَنِيُّ الْحَمِيدُ ⑥

၆။ ဧကန်မလွဲ အသင်တို့အဖို့ (ဝါ) အလ္လာဟ်အရှင်မြတ်အားလည်းကောင်း၊ နောက်ဆုံးနေ့ကိုလည်းကောင်း၊ ယုံကြည်သူ၏အဖို့ ထို(ဆိုခဲ့ပြီး ပုဂ္ဂိုလ်မွန်ပုဂ္ဂိုလ်မြတ်)တို့၌ မွန်မြတ်လှစွာသော စံနမူနာသည် ရှိ၏။ သို့ရာတွင် မည်သူမဆို မျက်နှာလွှဲ၍ ထွက်သွားသည်ရှိသော် ဧကန်မလွဲ အလ္လာဟ်အရှင်မြတ်မှာ မူကား လိုလားတောင့်တမှု ကင်းမဲ့တော်မူသောအရှင်၊ ချီးမွမ်းအပ်သော ဂုဏ်ဝိသေသအပေါင်းနှင့် ပြည့်စုံတော်မူသောအရှင်၊ ဖြစ်တော်မူပေသတည်း။

---

(၁) **တမန်တော် အီဗ်ရာဟီမ်၏ဆုမွန်။**

တမန်တော်အီဗ်ရာဟီမ်နှင့် နောက်လိုက်တပည့်သားတို့သည် အစ္စလာမ်သာသနာရေးရာများတွင် ကာဖိရ်များနှင့်မည်သို့မျှ မပတ်သက်ကြောင်း ပြတ်သားစွာ ကြေညာလိုက်ကြသည့်အခါ၊ ဤအာယတ်တော်များတွင် လာရှိသည့်အတိုင်း အလ္လာဟ်အရှင်မြတ်ထံတော်၌ "အို-ကျွန်တော်မျိုးတို့၏ အရှင်သခင်၊ ကျွန်တော်မျိုးတို့သည် (ယင်းသို့ ကာဖိရ်များနှင့် အဆက်ဖြတ်ရာတွင်) အရှင်မြတ်အပေါ်၌သာလျှင် ယုံပုံလွှဲအပ်ကြပါသည်။ (အရေးကိစ္စအဝဝတွင်) အရှင်မြတ်ဘက်တော်သို့သာလျှင် လှည့်ကြပါသည်။ အားလုံးတို့သည်လည်း အရှင်မြတ်ဘက်တော်သို့ ပြန်လှည့်ကြရမည်သာဖြစ်ပါသည်။

အို-အရှင်မြတ်၊ ကျွန်တော်မျိုးတို့အား ကာဖိရ်များ၏ ကျူးကျော်စော်ကားရာ ပြုတော်မမူပါနှင့်၊ ➤➤

عَسَى اللَّهُ أَن يَجْعَلَ بَيْنَكُمْ وَبَيْنَ الَّذِينَ عَادَيْتُم مِّنْهُم مَّوَدَّةً ۚ وَاللَّهُ قَدِيرٌ ۚ وَاللَّهُ غَفُورٌ رَّحِيمٌ ﴿٧﴾

၇။ အလ္လာဟ်အရှင်မြတ်သည် အသင်တို့နှင့် အသင်တို့၏ ရန်ဘက်များဖြစ်ကြသော သူတို့၏အကြားဝယ် *ချစ်ခင်မှုကိုစီမံဖန်တီးပေးတော်မူမည်ဖြစ်တန်ရာ၏၊*[၁] အမှန်သော်ကား အလ္လာဟ်အရှင်မြတ်သည် အရာရာကို အကြွင်းမဲ့ စွမ်းနိုင်တော်မူသောအရှင်မြတ်ပင် ဖြစ်တော်မူ၏။ ၎င်းပြင် အလ္လာဟ်အရှင်မြတ်သည် အလွန်တရာ ခွင့်လွှတ်ချမ်းသာ ပေးတော်မူသောအရှင်၊ အလွန်တရာ သနားကြင်နာ ညှာတာတော်မူသောအရှင် ဖြစ်တော်မူ၏။

لَّا يَنْهَاكُمُ اللَّهُ عَنِ الَّذِينَ لَمْ يُقَاتِلُوكُمْ فِي الدِّينِ وَلَمْ يُخْرِجُوكُم مِّن دِيَارِكُمْ أَن تَبَرُّوهُمْ وَتُقْسِطُوا إِلَيْهِمْ ۚ إِنَّ اللَّهَ يُحِبُّ الْمُقْسِطِينَ ﴿٨﴾

၈။ အလ္လာဟ်အရှင်မြတ်သည် အသင်တို့အား အကြင်သူတို့ကို ကျေးဇူးပြုခြင်းမှလည်းကောင်း၊ တရားမျှတစွာ ဆက်ဆံခြင်းမှလည်းကောင်း၊ တားမြစ်တော်မူသည် မဟုတ်ပေ။ ထိုသူတို့သည် အသင်တို့အား "ဒီန်" သာသနာနှင့်စပ်လျဉ်း၍ တိုက်ခိုက်ခဲ့ကြသည်လည်း မဟုတ်ပေ။ အသင်တို့အား အသင်တို့၏ နေအိမ်များမှ နှင်ထုတ်ခဲ့ကြသည်လည်း မဟုတ်ပေ။ ဧကန်စင်စစ် အလ္လာဟ်အရှင်မြတ်သည် တရားမျှတသောသူတို့အား နှစ်သက် ချစ်တော်မူ၏။

---

➤➤ ကျွန်တော်မျိုးတို့အား ခွင့်လွှတ်တော်မူပါ အရှင်မြတ်၊ အရှင်မြတ်သည် အလွန်တရာ မြင့်မြတ်သော ဘုန်းတေဇာနှင့် ပြည့်စုံတော်မူသောအရှင်၊ အတိုင်းမသိ သိမ်မွေ့ဘိသော ဆင်ခြင်တုံတရားနှင့် ပြည့်စုံတော်မူသော အရှင် အမှန်ပင် ဖြစ်တော်မူပါသည်ဟူ၍ ဆုပန်ကြားခဲ့ကြလေသည်။ ဤကား အန္တရာယ်ကင်း ဆုမွန်ပင်။

(၁) အထက်တွင် ရန်သူကာဖိရ်များနှင့် အဆက်ဖြတ်ရမည့်အကြောင်း၊ ယင်းကိစ္စတွင် တမန်တော် အီဗ်ရာဟီမ်နှင့် ၎င်း၏တပည့်သားများ၏ လမ်းစဉ်ကို ဖဝါးခြေထပ် လိုက်နာကျင့်သုံးရမည့် အကြောင်းပါရှိ၏။ မွတ်စ်လင်မ်များသည် ယင်းလမ်းစဉ်အရ မိမိတို့၏ အချို့သားချင်းများနှင့် အဆက်ဖြတ်ကြရမည်ဖြစ်ရာ၊ လူ့သဘာဝအလျောက် ပူပန်ကောင်း ပူပန်ကြမည်ဖြစ်၏။ ထို့အတွက်ကြောင့် ဤအာယတ်တော်တွင် မွတ်စ်လင်မ်များအား ကောင်းချီးသတင်း ပေးထားတော်မူ၏။

ဆိုလိုသည်ကား–အလ္လာဟ်အရှင်မြတ်သည် မိမိ၏တန်ခိုးတော်၊ ကရုဏာတော်ဖြင့် ယနေ့ မွက်စ်လင်မ်များနှင့် အကြီးအကျယ် ရန်ငြိုးဖွဲ့ထားကြသော မွတ်စ်လင်မ်တို့၏ အဆိုးရွားဆုံးနှင့် အကြီးဆုံး ရန်သူများကိုပင် မကြာမီအတွင်း မွတ်စ်လင်မ်တို့၏ မိတ်ဆွေများအဖြစ်သို့ ပြောင်းလဲပေးတော်မူနိုင်သည်၊ မွတ်စ်လင်မ် ➤➤

إِنَّمَا يَنْهَىٰكُمُ ٱللَّهُ عَنِ ٱلَّذِينَ قَٰتَلُوكُمْ فِى ٱلدِّينِ وَأَخْرَجُوكُم مِّن دِيَٰرِكُمْ وَظَٰهَرُوا۟ عَلَىٰٓ إِخْرَاجِكُمْ أَن تَوَلَّوْهُمْ ۚ وَمَن يَتَوَلَّهُمْ فَأُو۟لَٰٓئِكَ هُمُ ٱلظَّٰلِمُونَ ⑨

၉။ (စင်စစ်သော်ကား) အလ္လာဟ်အရှင်မြတ်သည် အသင်တို့အား အကြင်သူတို့ကို အဆွေခင်ပွန်း ပြုလုပ်ခြင်းမှသာ တားမြစ်တော်မူ၏။ ထိုသူတို့သည် "ဒီန်" သာသနာနှင့်စပ်လျဉ်း၍ အသင်တို့ကို တိုက်ခိုက်ခဲ့ကြသည့်ပြင် အသင်တို့အား အသင်တို့၏နေအိမ်များမှလည်း နှင်ထုတ်ခဲ့ကြ၏။ အသင်တို့ကို နှင်ထုတ်ရေးနှင့်စပ်လျဉ်း၍ (သူတစ်ပါးတို့အား) ယိုင်းပင်းကူညီခဲ့ကြ၏။ စင်စစ်သော်ကား မည်သူမဆို ၎င်းတို့အား အဆွေခင်ပွန်း ပြုလုပ်သည်ရှိသော် ထိုကဲ့သို့သော သူတို့သည်သာလျှင် *မတရားသောသူများ ဖြစ်ကြကုန်သတည်း*။ [၁]

---

➢➢ အဖြစ်သို့ပင် ကူးပြောင်းစေတော်မူနိုင်သည်။

မက္ကာမြို့တော်ကို တမန်တော်မြတ် ပြန်လည်သိမ်းပိုက်လိုက်တော်မူသည့်အချိန်တွင် ဤအတိုင်းပင် ဖြစ်ပေါ်လာခဲ့သည် မဟုတ်ပါလော၊ ထိုအချိန်တွင် မက္ကာမြို့သား အားလုံးလိုလိုပင် မွတ်စ်လင်မ် ဖြစ်လာခဲ့ကြပေသည်။ မွတ်စ်လင်မ်တို့အား လက်ရောက်ကျူးကျော်စော်ကား သတ်ဖြတ်နေခဲ့ကြသော ကာဖိရ်များသည် ယခုသော် မွတ်စ်လင်မ်ဖြစ်လာပြီး မွတ်စ်လင်မ်များ၏ မိတ်ဆွေများ ဖြစ်လျက်ရှိကြပြီ၊ မွတ်စ်လင်မ်များအား ကာကွယ်လျက်ရှိကြပြီ၊ မွတ်စ်လင်မ်များအတွက် အသက်ပေးလျက်ရှိကြပြီ။

သို့ဖြစ်ရာ မွတ်စ်လင်မ်များသည် ခေတ္တခဏ မိမိတို့၏အချို့သားချင်းများနှင့် အဆက်ဖြတ်ကြရမည်ကို တွေးတောကာ ပူပန်မနေကြရာ။

(၁) **ရန်ပြုသောကာဖိရ်နှင့် ရန်မပြုသောကာဖိရ် မတူ၊**

အချို့ ကာဖိရ်များသည် သာသနာရေးရာများတွင် မွတ်စ်လင်မ်တို့အား အမျိုးမျိုး အနှောင့်အယှက်ပေးခဲ့ကြ၏။ တိုက်ခိုက်ခဲ့ကြ၏။ တိုင်းပြည်မှ နှင်ထုတ်ခဲ့ကြ၏။ မွတ်စ်လင်မ်တို့ကို တိုင်းပြည်မှ နှင်ထုတ်ရန် သူတစ်ပါးတို့အားလည်း အားပေးအားမြှောက် ပြုလုပ်ခဲ့ကြ၏။

ယင်းသို့သော ရန်သူကာဖိရ်များနှင့် မိတ်ဖွဲ့မှုကို အလ္လာဟ်အရှင်မြတ်သည် အတိအလင်း ပိတ်ပင်တားမြစ်တော်မူသည်။ ကြည့်-ကုရ်အာန် (၃း၁၁၇-၁၁၉)

အချို့ ကာဖိရ်များသည် သာသနာရေးရာများနှင့် စပ်လျဉ်း၍ မွတ်စ်လင်မ်တို့အား မည်သို့မျှ အနှောင့်အယှက်မပြုကြ၊ တိုက်ခိုက်ကြသည်လည်း မရှိကြ၊ တိုင်းပြည်မှ နှင်ထုတ်ကြသည်လည်း မဟုတ်ကြ၊

ယင်းသို့သော ကာဖိရ်များကိုမူ မွတ်စ်လင်မ်များသည် အကျိုးပြုကြရပေမည်။ ၎င်းတို့နှင့် ကောင်းမွန်မှုတစွာ ဆက်ဆံကြရပေမည်။ ယင်းသို့ အကျိုးပြုခြင်း၊ တရားမျှတစွာ ဆက်ဆံခြင်းများကို အလ္လာဟ်အရှင်မြတ်သည် တားမြစ်တော်မမူပေ။

يَآأَيُّهَا الَّذِينَ آمَنُوا إِذَا جَاءَكُمُ الْمُؤْمِنَاتُ مُهَاجِرَاتٍ فَامْتَحِنُوهُنَّ ۖ اللَّهُ أَعْلَمُ بِإِيمَانِهِنَّ ۖ فَإِنْ عَلِمْتُمُوهُنَّ مُؤْمِنَاتٍ فَلَا تَرْجِعُوهُنَّ إِلَى الْكُفَّارِ ۖ لَا هُنَّ حِلٌّ لَهُمْ وَلَا هُمْ يَحِلُّونَ لَهُنَّ ۖ وَآتُوهُمْ مَا أَنْفَقُوا ۚ وَلَا جُنَاحَ عَلَيْكُمْ أَنْ تَنْكِحُوهُنَّ إِذَا آتَيْتُمُوهُنَّ أُجُورَهُنَّ ۚ وَلَا تُمْسِكُوا بِعِصَمِ الْكَوَافِرِ

၁၀။ အို-'မုအ်မင်န်' သက်ဝင်ယုံကြည်သူ အပေါင်းတို့၊ အသင်တို့ထံ 'မုအ်မင်န်'သက်ဝင်ယုံကြည်သော မိန်းမများသည် ရွှေ့ပြောင်း၍ လာခဲ့ကြသောအခါ အသင်တို့သည် ၎င်းတို့အား *စမ်းသပ်စစ်ဆေးကြလေကုန်။* [၁] အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့၏ "အီမာန်" သက်ဝင်ယုံကြည်မှုကို ကောင်းမွန်စွာ သိရှိတော်မူ၏။

သို့ဖြစ်ရကား အကယ်၍ အသင်တို့သည် ၎င်းတို့ "မုအ်မင်န်" သက်ဝင်ယုံကြည်သော မိန်းမများဖြစ်ကြောင်းကို ကောင်းမွန်စွာ သိရှိခဲ့ကြရသောအခါ အသင်တို့သည် ၎င်းတို့အား "ကာဖိရ်" များထံသို့ ပြန်၍ မပို့ကြကုန်လင့်။ ၎င်းတို့မှာလည်း ထိုကာဖိရ်တို့အဖို့ (ဟလာလ်) တရားဝင်ကြသည် မဟုတ်ပေ။ ထို "ကာဖိရ်"များမှာလည်း ၎င်းတို့အဖို့ (ဟလာလ်) တရားဝင်ကြသည် မဟုတ်ပြီ။ သို့ရာတွင် အသင်တို့သည် ထို'ကာဖိရ်'များအား ၎င်းတို့ အကုန်အကျခံခဲ့ကြသည်များကို ပေးဆပ်ကြလေကုန်။

ထို့ပြင် အကယ်၍ အသင်တို့သည် ၎င်းတို့အား ၎င်းတို့၏ "မဟ်ရ်" ထိမ်းမြားကြေးများကို ပေးဆပ်ကြလျှင် ၎င်းတို့နှင့် နိကာဟ်ထိမ်းမြားခြင်းမှာ အသင်တို့၌ အပြစ်မဟုတ်ပေ။ [၂]

---

(၁) ဆိုလိုသည်ကား-မွတ်စ်လင်မ်များသည် မိမိထံသို့ 'ဒါရုလ်ဟရ်ဗ်'မှ ရွှေ့ပြောင်းလာကြသော မွတ်စ်လင်မ် အမျိုးသမီးများအား ယင်းအမျိုးသမီးများသည် အမှန်တကယ် မွတ်စ်လင်မ် ဖြစ်ကြသည်၊ မဖြစ်ကြသည်၊ အစ္စလာမ်အတွက် တိုင်းပြည်မြို့ရွာ စွန့်ခွာကြသည်၊ သို့တည်းမဟုတ် အခြားလောကီရေး ကိစ္စတစ်ခုခုအတွက် သော်လည်းကောင်း၊ မိမိ စိတ်အလိုဆန္ဒ တစ်ခုခုအတွက်ကြောင့်သော်လည်းကောင်း၊ စွန့်ခဲ့ကြသည်များကို စစ်ဆေးမေးမြန်းကြရပေမည်၊ စမ်းသပ်ကြည့်ကြရပေမည်။

အချို့(ရိဝါယတ်)ကျမ်းချက်များအရ ယင်းသို့သော အမျိုးသမီးများအား သာဝကကြီး အုမရ်သခင်သည် စစ်ဆေးမေးမြန်းလေ့ရှိခဲ့ပေသည်။ တမန်တော်မြတ်၏ ကိုယ်စား 'ဗိုင်အတ်' ယူလေ့ရှိခဲ့ပေသည်။ တစ်ခါတစ်ရံ တမန်တော်မြတ်ကိုယ်တော်တိုင် 'ဗိုင်အတ်' ယူတော်မူလေ့ရှိခဲ့ပေသည်။

وَسْـَٔلُوا مَآ أَنفَقْتُمْ وَلْيَسْـَٔلُوا مَآ أَنفَقُوا ذَٰلِكُمْ حُكْمُ ٱللَّهِ يَحْكُمُ بَيْنَكُمْ وَٱللَّهُ عَلِيمٌ حَكِيمٌ ﴿١٠﴾

ထို့ပြင် အသင်တို့သည် 'ကာဖိရ်' မိန်းမများ၏ ဂုဏ်အသရေကို သိမ်းပိုက်၍မထားကြကုန်လင့်။ ၎င်းပြင် အသင်တို့သည်လည်း မိမိတို့ အကုန်အကျခံခဲ့ကြသည်များကို ('ကာဖိရ်'များထံမှ) တောင်း၍ ယူကြလေကုန်။ ၎င်းတို့သည်လည်း မိမိတို့ ကုန်ကျခဲ့သည်များကို (အသင်တို့ထံမှ) တောင်း၍ ယူကြရပေမည်။ [၁]

ထိုသည်ကား အလ္လာဟ်အရှင်မြတ်၏ စီရင်ပြဋ္ဌာန်းချက်ပင်။ ထိုအရှင်မြတ်သည် အသင်တို့၏ အကြားဝယ် စီရင် ပြဋ္ဌာန်းတော်မူ၏။ စင်စစ်သော်ကား အလ္လာဟ်အရှင်မြတ်သည် အရာခပ်သိမ်းတို့ကို အကြွင်းမဲ့ သိတော်မူသောအရှင်၊ နူးညံ့သိမ်မွေ့သော ဆင်ခြင်တုံတရားနှင့် ပြည့်စုံတော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူ၏။

---

(၂) ဆိုလိုသည်ကား ဇနီးမောင်နှံ နှစ်ဦးအနက် တစ်ဦးက မွတ်စ်လင်မ်ဖြစ်၍ အခြားတစ်ဦးက ကာဖိရ်ဖြစ်နေသော်၊ ထို့နောက် တစ်ဦးက 'ဒါရုလ်အစ္စလာမ်'တွင် နေထိုင်၍တစ်ဦးက 'ဒါရုလ်ဟာရ်ဗ်' တွင် နေထိုင်ပါသော် ထိုဇနီးမောင်နှံနှစ်ဦး၏ လင်ခန်းမယားခန်းသည် ရပ်တည်မနေ၊ ပြတ်စဲ၍ သွားပေသည်။

သို့ဖြစ်ရာ အကယ်၍ ကာဖိရ်တစ်ယောက်၏ ဇနီးမိန်းမတစ်ဦးသည် မွတ်စ်လင်မ်ဖြစ်၍ ဒါရုလ်အစ္စလာမ်သို့ ရွှေ့ပြောင်းလာသော် ထိုဇနီးမောင်နှံ၏ လင်ခန်းမယားခန်းသည် ပြတ်စဲသွားသည်။ သို့ပြတ်စဲသွားပြီး ဖြစ်ရာ အကယ်၍ မွတ်စ်လင်မ်တစ်ဦးသည် ထိုအမျိုးသမီးနှင့် ထိမ်းမြားလိုပါက အဆိုပါအမျိုးသမီးအား ၎င်း၏ယခင် ခင်ပွန်းဖြစ်ခဲ့သူ ကာဖိရ် ယောကျ်ားက 'မဟာရ်' ထိမ်းမြားကြေးအဖြစ်ပေးခဲ့သော ထိမ်းမြားကြေးကို အဆိုပါအမျိုးသမီးနှင့် ယခုထိမ်းမြားမည့် မွတ်စ်လင်မ်က ယခင် ကာဖိရ် ယောကျ်ားသို့ ပေးအပ်ရမည်။ ထို့နောက် အဆိုပါ အမျိုးသမီးနှင့် ထိမ်းမြားရာတွင် သတ်မှတ်သော မဟာရ် ထိမ်းမြားကြေးကိုလည်း သီးသန့် ပေးရဦးမည်ပင်ဖြစ်သည်။ ထို့နောက်သော်မှ ထိမ်းမြားနိုင်ပေသည်။

(၁) ဆိုလိုသည်ကား မွတ်စ်လင်မ်တစ်ဦး၏ ဇနီးမိန်းမတစ်ယောက်သည် ကာဖိရ်ဖြစ်နေလျှင် အဆိုပါ မွတ်စ်လင်မ် ယောကျ်ားသည် အဆိုပါ မိမိ၏ဇနီးအား စွန့်လွှတ်လိုက်ရပေမည်။ ထို့နောက် ကာဖိရ် တစ်ဦးတစ်ယောက်သည် အဆိုပါ အမျိုးသမီးနှင့် ထိမ်းမြားလိုပါက အဆိုပါ အမျိုးသမီး၏ ယခင် ခင်ပွန်းသည်ဖြစ်ခဲ့ဖူးသူ မွတ်စ်လင်မ် ယောကျ်ားက အဆိုပါ အမျိုးသမီးအား 'မဟာရ်' ထိမ်းမြားကြေးအဖြစ် ပေးခဲ့သော ထိမ်းမြားကြေးကို အဆိုပါ အမျိုးသမီးနှင့် ယခုထိမ်းမြားလိုသော ကာဖိရ်ယောကျ်ားက အဆိုပါ မွတ်စ်လင်မ်ထံသို့ ပေးအပ်ရမည်။ ဤသို့ဖြင့် ကုရ်အာန်သည် အုပ်စုနှစ်ခုစလုံး၌ မိမိတို့၏ အခွင့်အရေးများကို တောင်းဆိုပိုင်ခွင့် ပြုထားသည်။

အပြန်အလှန် တောင်းဆိုပိုင်ခွင့်ရှိကြောင်း အမိန့်တော်ကျရောက်လာသည့်အခါ မွတ်စ်လင်မ် ➤➤

وَإِنْ فَاتَكُمْ شَيْءٌ مِّنْ أَزْوَاجِكُمْ إِلَى الْكُفَّارِ فَعَاقَبْتُمْ فَآتُوا الَّذِينَ ذَهَبَتْ أَزْوَاجُهُم مِّثْلَ مَا أَنفَقُوا ۚ وَاتَّقُوا اللَّهَ الَّذِي أَنتُم بِهِ مُؤْمِنُونَ ⑪

၁၁။ သို့ရာတွင် အကယ်၍ အသင်တို့၏ ဇနီးမိန်းမတို့အနက် တစ်စုံတစ်ယောက်သည် 'ကာဖိရ်' များထံသို့ ထွက်သွားခဲ့ပြီးနောက် အသင်တို့အလှည့် ရောက်ခဲ့ပါလျှင် (အသင်တို့သည် လက်ရပစ္စည်းရရှိခဲ့ကြလျှင်) ဇနီးမိန်းမများ ထွက်သွားခဲ့ကြသောသူတို့အား ၎င်းတို့အကုန်အကျခံခဲ့ကြသည့် ('မဟ်ရ်' ထိမ်းမြားကြေး)နှင့် အညီအမျှ အသင်တို့ ပေးဆပ်ကြလေကုန်။ [၁] ထိုမှတစ်ပါး အသင်တို့ သက်ဝင် ယုံကြည်ကြကုန်သော အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ကြလေကုန်။

---

➤➤ များသည် မိမိတို့၌ပေးရန်ရှိက မိမိတို့က ပေးရန်လည်းအသင့်၊ မိမိတို့က ရယူရန်ရှိက လက်ခံယူရန်လည်း အသင့် ဖြစ်သွားခဲ့ကြပေသည်။ သို့ရာတွင် ကာဖိရ်များသည် ၎င်းတို့၌ ပေးရန်တာဝန်ရှိသည်ကိုပေးရန်၊ လက်မခံခဲ့ကြပေ။ ထိုအခါ ရှေ့ရှိအာယတ်တော် ကျရောက်လာခဲ့ပေသည်။ ကြည့်- အွတ်ဆ်မာနီ။

(၁) ဆိုလိုသည်ကား - မွတ်စ်လင်မ်ယောကျ်ားတစ်ဦး၏ ကာဖိရ်ဇနီး မိန်းမတစ်ဦးသည် ဒါရုလ်ဟရ်ဗ်တွင် နေရစ်ခဲ့အံ့၊ ယင်းကာဖိရ် အမျိုးသမီးနှင့် ကာဖိရ်တစ်ဦးတစ်ယောက်က ထိမ်းမြားအံ့၊ ယင်းကာဖိရ်ယောကျ်ားက အဆိုပါ ကာဖိရ် အမျိုးသမီး၏ ပထမခင်ပွန်းသည်ဖြစ်သူ မွတ်စ်လင်မ်ယောကျ်ားအား ၎င်းကုန်ကျထားခဲ့သည့် မဟာရ်ထိမ်းမြားကြေးကို ပြန်လည် မပေးအံ့။

ထို့အတူ အကြင်ကာဖိရ်တစ်ယောက်၏ ဇနီးမိန်းမသည် မွတ်စ်လင်မ်ဖြစ်၍ ဒါရုလ်အစ္စလာမ်သို့ ရောက်ရှိလာအံ့၊ အဆိုပါ မွတ်စ်လင်မ် အမျိုးသမီးနှင့် မွတ်စ်လင်မ်တစ်ဦးက ထိမ်းမြားအံ့။ သို့ဖြစ်လျှင် မွတ်စ်လင်မ်အမျိုးသမီးနှင့် ထိမ်းမြားသော မွတ်စ်လင်မ်ယောကျ်ားသည် မိမိ၏ဇနီးနှင့်ပတ်သက်၍ ပေးဆပ်ရန်ရှိသော ထိမ်းမြားကြေးကို သက်ဆိုင်ရာ ကာဖိရ်ယောကျ်ားအား မပေးဘဲ၊ မိမိ၏ကာဖိရ်ဇနီးနှင့်ပတ်သက်၍ အခွင့်အရေး ဆုံးရှုံးနေရသော မွတ်စ်လင်မ်ယောကျ်ားအား ၎င်းကုန်ကျထားခဲ့သည်နှင့်အမျှ လွှဲပြောင်းပေးရမည်။

အကယ်၍ အဆိုပါ မွတ်စ်လင်မ် ယောကျ်ားအား လွှဲပြောင်းပေးပြီးသည့်နောက်တွင်လည်း ထိမ်းမြားကြေး တစ်စုံတစ်ရာ ကျန်ရှိနေပါက ကျန်ရှိနေသော ထိမ်းမြားကြေးကိုမူ သက်ဆိုင်သူထံသို့ ပြန်လည်ပေးရမည်။

အချို့ အာလင်မ်ပညာရှင်များက ဖွင့်ဆိုရေးသားကြသည်မှာ အကယ်၍ မွတ်စ်လင်မ်တစ်ဦးသည် ကာဖိရ်တစ်ဦးတစ်ယောက်အား ၎င်းကုန်ကျထားခဲ့သော ထိမ်းမြားကြေးကို ပေးဆပ်ရန် မစွမ်းဆောင်နိုင်ပါက 'ဗိုင်တုလ်မာလ်' ခေါ် အစ္စလာမ်အစိုးရ၏ ဘဏ္ဍာတော်တိုက်မှပင် စိုက်ထုတ်ပေးရမည်ဟူ၏။ အစ္စလာမ်၏ တရားမျှတမှုကား အံ့မဆုံးပါဘိတကား။

يَاَيُّهَا النَّبِيُّ اِذَا جَآءَكَ الْمُؤْمِنٰتُ يُبَايِعْنَكَ عَلٰٓى اَنْ لَّا يُشْرِكْنَ بِاللّٰهِ شَيْـًٔا وَّلَا يَسْرِقْنَ وَلَا يَزْنِيْنَ وَلَا يَقْتُلْنَ اَوْلَادَهُنَّ وَلَا يَاْتِيْنَ بِبُهْتَانٍ يَّفْتَرِيْنَهٗ بَيْنَ اَيْدِيْهِنَّ وَاَرْجُلِهِنَّ وَلَا يَعْصِيْنَكَ فِيْ مَعْرُوْفٍ فَبَايِعْهُنَّ وَاسْتَغْفِرْ لَهُنَّ اللّٰهَ اِنَّ اللّٰهَ غَفُوْرٌ رَّحِيْمٌ ﴿١٢﴾

၁၂။ အို–နဗီတမန်တော်၊ "မုအ်မင်န်" သက်ဝင်ယုံကြည်ကြသော မိန်းမများသည် အသင့်ထံလာ၍ မိမိတို့မှာ မည်သည့် တစ်စုံတစ်ရာကိုမျှပင် အလ္လာဟ်အရှင်မြတ်နှင့် တွဲဖက်နိုင်းယှဉ် (ဆည်းကပ်ကိုးကွယ်) ကြမည် မဟုတ်ပါ ဟူ၍လည်းကောင်း၊ ခိုးဝှက်မှုကိုလည်း ကျူးလွန်ကြမည်မဟုတ်ပါ ဟူ၍လည်းကောင်း၊ သူတစ်ပါး၏ ဇနီးမယားအား ပြစ်မှားသော အမှုကိုလည်းကျူးလွန်ကြမည်မဟုတ်ပါဟူ၍လည်းကောင်း။ မိမိတို့၏ သားသမီးများကိုလည်း သတ်ဖြတ်ကြမည်မဟုတ်ပါဟူ၍လည်းကောင်း၊ မိမိတို့၏ လက်များနှင့် ခြေများ၏အကြား၌ မုသား တစ်စုံတစ်ရာကိုလည်း လီဆယ်ဖန်တီးကြမည် မဟုတ်ပါဟူ၍လည်းကောင်း၊ ကောင်းမြတ်သော အမှုကိစ္စတစ်စုံတစ်ရာနှင့် စပ်လျဉ်း၍ အသင်၏အမိန့်ကိုလည်း ဖီဆန်ကြမည်မဟုတ်ပါဟူ၍ လည်းကောင်း၊ "ဗိုင်အတ်" ပြုကြသောအခါ အသင်သည် ၎င်းတို့အား ဗိုင်အတ် ပြုပါလေ။

ထိုမှတစ်ပါး အသင်သည် အလ္လာဟ်အရှင်မြတ် အထံတော်၌ ၎င်းတို့အဖို့ လွတ်ငြိမ်းချမ်းသာခွင့်ကိုလည်း ပန်ကြားပါလေ။ မလွဲဧကန် အလ္လာဟ်အရှင်မြတ်သည် အလွန်တရာ လွတ်ငြိမ်းချမ်းသာခွင့် ပေးတော်မူသောအရှင်၊ အလွန်တရာ ကရုဏာပြုတော်မူသော အရှင်၊ ဖြစ်တော်မူပေသတည်း။ [၁]

---

(၁) **တမန်တော်မြတ်ထံ၌ မွတ်စ်လင်မ် အမျိုးသမီးများ 'ဗိုင်အတ်' ပြုခဲ့ခြင်း။**

အထက်တွင် ကုရ်အာန်ကျမ်းမြတ် (၆၀:၁၀) တွင် ဒါရုလ်အစ္စလာမ်သို့ ရွှေ့ပြောင်းလာကြသော မွတ်စ်လင်မ် အမျိုးသမီးများအား စစ်ဆေးမေးမြန်းရမည့် အကြောင်းပါရှိ၏။

ဤအာယတ်တော်တွင် ယင်းမွတ်စ်လင်မ် အမျိုးသမီးများအား စစ်ဆေးမေးမြန်းမှုမှာ အခြားမဟုတ်၊ ၎င်းတို့သည် ဤအာယတ်တော်တွင်လာရှိသော အမိန့်တော်များကို ကြည်ဖြူစွာနာခံခြင်းပင်ဖြစ်၏။ ဆိုလိုသည်ကား ဒါရုလ် အစ္စလာမ်သို့ ရွှေ့ပြောင်းလာကြသော မွတ်စ်လင်မ်အမျိုးသမီးများသည် ဤအာယတ်တော်လာ ➢➢

يَٰٓأَيُّهَا ٱلَّذِينَ ءَامَنُوا۟ لَا تَتَوَلَّوْا۟ قَوْمًا غَضِبَ ٱللَّهُ عَلَيْهِمْ قَدْ يَئِسُوا۟ مِنَ ٱلْءَاخِرَةِ كَمَا يَئِسَ ٱلْكُفَّارُ مِنْ أَصْحَٰبِ ٱلْقُبُورِ ﴿١٣﴾

၁၃။ အို–"မုအ်မင်န်" သက်ဝင်ယုံကြည်သူ အပေါင်းတို့၊ အသင်တို့သည် *အလ္လာဟ်အရှင်မြတ်၏ အမျက်တော် ကျရောက်ခဲ့သောလူမျိုးကို အဆွေခင်ပွန်း မပြုလုပ်ကြကုန်လင့်*။ [၁] ဧကန်စင်စစ် ၎င်းတို့မှာ သင်္ချိုင်းများအတွင်း၌ ရှိကြကုန်သောသူတို့နည်းတူ "အာခိရတ်" တမလွန်ဘဝ၏ (အကျိုးကျေးဇူး)များကို မျှော်လင့်ချက် ကင်းလျက် ရှိကြကုန်သတည်း။

**တစ်နည်း**

ဧကန်စင်စစ် ၎င်းတို့မှာမူကား သင်္ချိုင်းများအတွင်းဝယ် ရှိသူတို့ထံမှ (အကျိုးကျေးဇူး)များကို မျှော်လင့်ချက် ကင်းကြသကဲ့သို့ပင် "အာခိရတ်" တမလွန်ဘဝ(၏ အကျိုးကျေးဇူး)များကိုလည်း မျှော်လင့်ချက် ကင်းလျက် ရှိကြကုန်သတည်း။

---

➤➤ အမိန့်တော်မြတ်များကို ကြည်ဖြူစွာ နာခံကြပါက ၎င်းတို့၏ 'အီမာန်' ယုံကြည်မှုကို အတည်ပြုကြရမည်ဟူ၏။

ဤအာယတ်တော်သည် ဗိုင်အတ်ဆိုင်ရာ အာယတ်တော်ဟူ၍ မည်တွင်သည်။ မွတ်စ်လင်မ် အမျိုးသမီးများသည် တမန်တော်မြတ်ထံလာရောက်၍ ဤအာယတ်တော်တွင် ပါရှိသည့်အတိုင်း ဗိုင်အတ်ပြုလေ့ရှိခဲ့သည်။ (သစ္စာအဓိဋ္ဌာန် ဆိုလေ့ရှိခဲ့ကြသည်)။ တမန်တော်မြတ်သည် မိမိထံ အမျိုးသမီးများ လာရောက်ဗိုင်အတ်ပြုကြရာတွင် လက်ဆက်တော်မူလေ့ အလျင်းမရှိခဲ့ပေ။ ကြည့်–အွတ်ဆ်မာနီ။

(၁) ဤကဏ္ဍ၏ အစတွင် ရန်သူကာဖိရ်များနှင့် မိတ်ဆွေမဖွဲ့ရမည့်အကြောင်း ပါရှိ၏။ ယင်းသည့်အကြောင်းကိုပင် လေးနက်စေသည်ထက် လေးနက်စေရန် အလို့ငှာ ဤကဏ္ဍ၏ အဆုံးတွင် ပြန်လည် သတိပေးထားတော်မူသည်။

ဆိုလိုသည်ကား အလ္လာဟ်အရှင်မြတ်၏ အမျက်တော်စူးရှခြင်းခံခဲ့ရသောသူများနှင့် အကျွမ်းတဝင် မိတ်ဖွဲ့ခြင်းမှာ မွတ်စ်လင်မ်များအဖို့ လားလားမျှ မအပ်စပ်ပေ။ အလ္လာဟ်အရှင်မြတ် အမျက်ထားတော်မူသောသူများအပေါ်၌ မွတ်စ်လင်မ်များသည်လည်း အမျက်ထားကြရမည်ပင်။

## (တန်းစီ)အစီအတန်းများကဏ္ဍ




ဤကဏ္ဍသည် 'ဆွဖ်' တန်းစီ ကဏ္ဍမည်၏။ မဒီနာမြို့၌ ကျရောက်ခဲ့၏။ ဤကဏ္ဍတွင် အာယတ်တော် (၁၄)ပါးနှင့် ရုကူအ်အပိုဒ် (၂)ပိုဒ် အသီးသီးပါရှိ၏။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ

မပြတ်မစဲ သနားကြင်နာ ညှာတာတော်မူသော၊ မဟာကရုဏာတော်ရှင် ဖြစ်တော်မူသော အလ္လာဟ်အရှင်မြတ်၏ နာမံတော်ဖြင့် အစပြုပါ၏။

سَبَّحَ لِلّٰهِ مَا فِي السَّمٰوٰتِ وَمَا فِي الْاَرْضِ ۚ وَهُوَ الْعَزِيْزُ الْحَكِيْمُ ①

၁။ မိုးကောင်းကင်များ၌ ရှိသမျှတို့သည်လည်းကောင်း၊ ပထဝီမြေ၌ရှိသမျှတို့သည်လည်းကောင်း၊ အလ္လာဟ်အရှင်မြတ် စင်ကြယ် သန့်ရှင်းတော်မူကြောင်း မြွက်ဆိုလျက်ရှိကြကုန်၏။ အမှန်သော်ကား ထိုအရှင်မြတ်သည် အလွန်တရာ ခန့်ညားတော်မူသောအရှင်၊ နူးညံ့သိမ်မွေ့သော ဆင်ခြင်တုံတရားနှင့် ပြည့်စုံတော်မူသောအရှင်၊ ဖြစ်တော်မူ၏။ [၁]

يٰۤاَيُّهَا الَّذِيْنَ اٰمَنُوْا لِمَ تَقُوْلُوْنَ مَا لَا تَفْعَلُوْنَ ②

၂။ အို-"မုအ်မင်န်" သက်ဝင်ယုံကြည်သူ အပေါင်းတို့၊ အသင်တို့သည် မည်သည့်အတွက်ကြောင့် မိမိတို့ မပြုလုပ်ကြသောကိစ္စကို (ပြုလုပ်လေဟန်) ပြောဆိုကြသနည်း။

---

(၁) အလ္လာဟ်အရှင်မြတ်သည် ကြီးကဲဆုံးသော တန်ခိုးတော်၊ သိမြင်နိုင်ဆုံးသော ဉာဏ်တော်နှင့် ပြည့်စုံတော်မူဘိ၏။ ထို့အတွက်ကြောင့်ပင် မိုး၊ မြေနှင့်တကွ စကြာဝဠာအဝန်း၌ ရှိရှိသမျှသော အရာခပ်သိမ်းကုန်တို့သည် ထိုအရှင်မြတ်အား ကိုယ့်နည်းကိုယ့်ဟန်ဖြင့် ဂုဏ်တော်မွမ်းလျက် ရှိကြကုန်၏။

အလ္လာဟ်အရှင်မြတ်သည် ယင်းသို့သော တန်ခိုးတော်၊ ဉာဏ်တော်များနှင့်ပြည့်စုံတော်မူသည်ဖြစ်ရာ ထိုအရှင်မြတ်၏အမိန့်တော်များကို ဦးလည်မသုဉ် နာခံကြရမည်သာဖြစ်သည်။ ထိုအရှင်မြတ်၏ အမိန့်တော်များတွင် 'ဂျိဟာဒ်' လည်း အပါအဝင်ဖြစ်သည်။ ရှေ့တွင် ယင်း 'ဂျိဟာဒ်' အကြောင်းကိုပင် မိန့်ဆိုထားတော်မူသည်။ ကြည့် - ထာနဝိ။

كَبُرَ مَقْتًا عِنْدَ اللّٰهِ
اَنْ تَقُوْلُوْا مَا لَا تَفْعَلُوْنَ ۝٣

၃။ အလ္လာဟ်အရှင်မြတ်အထံတော်တွင် အသင်တို့ *မပြုလုပ်ကြသောအမှုကိစ္စကို (ပြုလုပ်လေဟန်) ပြောဆိုခြင်းသည် လွန်စွာမုန်းတီးစက်ဆုပ်ဖွယ်ကောင်းလှ၏၊* [၁]

اِنَّ اللّٰهَ يُحِبُّ الَّذِيْنَ
يُقَاتِلُوْنَ فِيْ سَبِيْلِهٖ صَفًّا
كَاَنَّهُمْ بُنْيَانٌ مَّرْصُوْصٌ ۝٤

၄။ ဧကန်စင်စစ် အလ္လာဟ်အရှင်မြတ်သည် ထိုအရှင်မြတ်၏လမ်းတော်၌ စီတန်းလျက် လွန်စွာ သိပ်သည်း ခိုင်ခံ့လှစွာသော အဆောက်အအုံကဲ့သို့ပင် (မဆုတ်မနစ်၊ စိတ်ဓာတ် တည်ကြည်ကြံ့ခိုင်စွာ) တိုက်ခိုက်ကြကုန်သောသူတို့အား နှစ်မြို့တော်မူပေသတည်း။

وَاِذْ قَالَ مُوْسٰى لِقَوْمِهٖ يٰقَوْمِ
لِمَ تُؤْذُوْنَنِيْ وَقَدْ تَّعْلَمُوْنَ اَنِّيْ
رَسُوْلُ اللّٰهِ اِلَيْكُمْ ۭ فَلَمَّا زَاغُوْٓا
اَزَاغَ اللّٰهُ قُلُوْبَهُمْ ۭ وَاللّٰهُ لَا يَهْدِي
الْقَوْمَ الْفٰسِقِيْنَ ۝٥

၅။ ၎င်းပြင်၊ ပြန်လည် သတိရရှိကြလေကုန်။ တစ်ရံရောအခါဝယ် (နဗီတမန်တော်) "မူစာ"သည် မိမိ အမျိုးသားတို့အား "အို-ငါ၏အမျိုးသားတို့၊ ငါသည် အသင်တို့ထံ (စေလွှတ်တော်မူခြင်းခံရသော) အလ္လာဟ်အရှင်မြတ်၏ ရစူလ်တမန်တော် မုချအမှန် ဖြစ်ကြောင်း ဧကန်မလွဲ အသင်တို့ သိရှိပြီးဖြစ်ကြပါလျက် မည်သည့်အတွက်ကြောင့် အသင်တို့သည် ငါ့အားဒုက္ခပေးကြသနည်း'ဟု ပြောကြားခဲ့လေ၏၊ [၂]

---

(၁) **စကားဆို-တောင်လို မမောက်ရာ။**

ဆိုလိုသည်ကား လူသားသည် စကားပြောရာတွင် မကြွားရာ၊ စကားမထွားရာ၊ စကားကြီး စကားကျယ်မပြောရာ၊ ဟိတ်ဟန်မထုတ်ရာ။ စကားတစ်ခွန်းကို နှုတ်မှဖွင့်ဟပြောဆိုလိုက်ခြင်းမှာ လွယ်ကူလှ၏။ သို့ရာတွင် ပြောဆိုလိုက်သည့်အတိုင်း လက်တွေ့လိုက်နာ ဆောင်ရွက်ခြင်းမှာကား မလွယ်ကူလှပေ။ စကားကြီး စကားကျယ် ပြောဆိုပြီး မိမိကိုယ်တိုင် လက်တွေ့ လိုက်နာဆောင်ရွက်ခြင်း မရှိသူများကို အလ္လာဟ်အရှင်မြတ်သည် အလွန်စက်ဆုပ် ရွံ့မုန်းတော်မူသည်။

တစ်ခါသော် အချို့မွတ်စ်လင်မ်များသည် တစ်နေရာတွင် စုဝေးပြီး အကယ်၍သာ အလ္လာဟ်အရှင်မြတ် အနှစ်မြို့တော်မူဆုံး အလုပ်ကို သိရှိရပါလျှင် ငါတို့သည် ထိုအလုပ်ကို လုပ်ကြမည်သာဖြစ်သည်ဟု ပြောဆိုနေခဲ့ကြ၏။ ထိုအခါ ဤအာယတ်တော်များ ကျရောက်လာခဲ့ပေသည်။

ဆိုလိုသည်ကား စကားကို စဉ်းစားဆင်ခြင်၍ ပြောဆိုကြရမည်၊ မိမိတို့ကိုယ်တိုင် လက်တွေ့ မဆောင်ရွက်နိုင်သော ကိစ္စများကို မပြောကြရာ၊ ဤသည် အရှင်မြတ်ထံတော်မှာ အလွန်တရာ မနှစ်မြို့ဖွယ်ရာ ဖြစ်သည်။

သို့ပါလျက် ၎င်းတို့သည် လွဲချော်မှောက်မှား ခဲ့ကြသောအခါ အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့၏ စိတ်နှလုံးကို လွဲချော် မှောက်မှားစေတော်မူခဲ့၏။ အမှန်မှာမူကား အလ္လာဟ်အရှင်မြတ်သည် အမိန့်တော် ကို သွေဖည်သောလူမျိုးအား လမ်းမှန်သို့ရောက်စေ တော်မူသည် မဟုတ်ပေ။

وَإِذْ قَالَ عِيسَى ابْنُ مَرْيَمَ يَٰبَنِيٓ إِسْرَٰٓءِيلَ إِنِّي رَسُولُ ٱللَّهِ إِلَيْكُم مُّصَدِّقًا لِّمَا بَيْنَ يَدَيَّ مِنَ ٱلتَّوْرَىٰةِ وَمُبَشِّرًۢا بِرَسُولٍ يَأْتِي مِنۢ بَعْدِي ٱسْمُهُۥٓ أَحْمَدُ فَلَمَّا

၆။ ထိုမှတစ်ပါး ပြန်လည် သတိရရှိကြလေကုန်။ အခါတစ်ပါး၌ 'မရ်ယမ်'၏သားတော် နဗီတမန်တော် 'အီစာ' သည် (ဤသို့)ပြောကြားခဲ့လေ၏။

အို-အစ္စရာအီလီ မျိုးနွယ်ဝင် အပေါင်းတို့။ ဧကန်မလွဲ ငါသည် မိမိအလျင်ရှိနေသော တောင်ရာတ် (ကျမ်းဂန်)ကို ဟုတ်မှန်ကြောင်း ထောက်ခံအတည် ပြုသူအဖြစ်လည်းကောင်း၊ ငါ၏နောက်တွင်'အဟ်မဒ်'

---

(၂) တမန်တော်မူစာ(အလိုင်ဟစ္စလာမ်)၏ အမျိုးသားများသည် တမန်တော်မူစာ၏ ထင်ရှားသော တန်ခိုးများကို တွေ့မြင်၍ တမန်တော်မူစာမှာ အလ္လာဟ်အရှင်မြတ်၏ တမန်တော် အစစ်အမှန်ဖြစ်သည်ကို ကောင်းစွာယုံကြည်ခဲ့ကြ ၏။ သို့ပါသော်လည်း တမန်တော်မူစာ၏ အမျိုးသားများသည် သိဆိုး ဆိုးနေခဲ့ကြ၏။

'အသိခေါက်လျက် အဝင်နက်' ဆိုသကဲ့သို့ပင် သိလျက်နှင့်မိုက်နေခဲ့ကြ၏။ တမန်တော်မူစာအား အမျိုးမျိုး စိတ်ဆင်းရဲစေခဲ့ကြ၏။ မိမိ၏ ကောင်းကျိုးကို လိုလား၍ သွန်သင်ဆုံးမသော သာမန်မိတ်ဆွေ၊ ဆရာရှေ့ဆောင်တစ်ဦးအားပင် စိတ်ဆင်းရဲရအောင် မပြုအပ်ပေရာ၊ အလ္လာဟ်အရှင်မြတ်၏ တမန်တော်တစ်ပါးအား မူကား အသို့လျှင် ပြုအပ်ပါမည်နည်း။

တမန်တော်မူစာ၏ အမျိုးသားများသည် တစ်ဆူတည်းသော အလ္လာဟ်အရှင်မြတ်အား ကိုးကွယ်ကြ ရမည်ကိုသိပါလျက် နွားငယ်ကို ကိုးကွယ်ခဲ့ကြ၏။ 'အမာလိက်'များနှင့် စစ်ထိုးရန် အမိန့်တော် ကျရောက်လာသည့် အခါ 'အသင်နှင့်အသင်၏ အရှင်သွား၍တိုက်ကြ၊ ကျွန်ုပ်တို့သည် ဤတွင်ထိုင်နေကြမည်'ဟူ၍ပင် ပြောဆိုခဲ့ကြ၏။ ယင်းသို့သော စကားများဖြင့် တမန်တော်မူစာသည် လွန်စွာ စိတ်ဆင်းရဲတော်မူခဲ့ရရှာပေသည်။

နောက်ဆုံးတွင် တမန်တော်မူစာသည် မိမိ၏အမျိုးသားများအား မည်သို့မျှ တရားချ၍မရသည့်အဆုံး၌ မိမိ၏အမျိုးသားများဘက်မှ မျှော်လင့်ချက်ကုန်ဆုံးကာ၊ အလ္လာဟ်အရှင်မြတ်အထံတော်၌ 'အို-အရှင်မြတ်၊ ကျွန်တော်မျိုးသည် မိမိကိုယ်နှင့် မိမိ၏နောင်တော်ကြီးမှတစ်ပါး အခြားမည်သူ့ကိုမျှ မပိုင်ဆိုင်ပါ၊ အရှင်မြတ်သည် ကျွန်တော်မျိုးတို့နှင့် ဤသွေဖည်သော အမျိုးသားများ စပ်ကြားတွင် ခွဲခြားတော်မူပါ'ဟူ၍ ပန်ကြားရှာခဲ့လေသည်။ ကြည့်-ကုရ်အာန် (၅:၂၅)။

جَآءَهُم بِٱلْبَيِّنَٰتِ قَالُوا۟ هَٰذَا سِحْرٌ مُّبِينٌ ⑥

ဟူသော အမည်နာမနှင့် ပွင့်အံ့သော ရစူလ်တမန်တော် တစ်ပါးနှင့်ပတ်သက်၍ သတင်းကောင်း ပြောကြားသူ အဖြစ်လည်းကောင်း၊ အသင်တို့ထံ (စေလွှတ်တော်မူ ခြင်းခံရသော) *အလ္လာဟ်အရှင်မြတ်၏ ရစူလ်တမန်တော် ဖြစ်၏။* [၁]

သို့တစေလည်း ထို(နဗီတမန်တော်)သည် သက်သေ လက္ခဏာတော်များနှင့်တကွ ၎င်းတို့ထံ ရောက်ရှိ၍ လာခဲ့သောအခါ ၎င်းတို့က ဤသည် ထင်ရှားစွာသော ပဉ္စလက်အတတ်ပင် ဖြစ်သည်ဟု ပြောဆိုခဲ့ကြလေသတည်း။

وَمَنْ أَظْلَمُ مِمَّنِ ٱفْتَرَىٰ عَلَى ٱللَّهِ ٱلْكَذِبَ وَهُوَ يُدْعَىٰٓ إِلَى ٱلْإِسْلَٰمِ ۚ وَٱللَّهُ لَا يَهْدِى ٱلْقَوْمَ ٱلظَّٰلِمِينَ ⑦

၇။ အမှန်စင်စစ်သော်ကား မိမိကိုယ်တိုင် အစ္စလာမ် သာသနာတော်သို့ ဖိတ်ခေါ်ခြင်း ခံရသည်ဖြစ်ပါလျက် အလ္လာဟ်အရှင်မြတ်အပေါ်ဝယ် မုသားကို လီဆယ် စွပ်စွဲသောသူထက် ပိုမို၍မတရားသောသူကား အသူရှိ အံ့နည်း။ စင်စစ်မှာကား အလ္လာဟ်အရှင်မြတ်သည် မတရားသော လူမျိုးတို့အား တရားလမ်းမှန်သို့ ရောက်စေတော်မူသည် မဟုတ်ပြီ။ [၂]

---

(၁) ဆိုလိုသည်ကား ပွင့်လေသမျှသော တမန်တော်များသည် တမန်တော်မြတ် မုဟမ္မဒ်(ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်) ပွင့်တော်မူမည့်အကြောင်းကို အသီးသီးကြိုတင်ဟောကြားတော်မူခဲ့ကြသည်သာဖြစ်သည်။ ယင်းသည့် တမန်တော်များတွင် တမန်တော် အီစာ(အလိုင်ဟစ္စလာမ်)သည် တမန်တော်မြတ် ပွင့်တော်မူမည့်အကြောင်းကို အမည်နာမနှင့်တကွ အတိအကျ ပွင့်လင်းစွာ ကြိုတင် ဟောကြားတော်မူခဲ့ပေသည်။

ယင်းသို့ ဟောကြားတော်မူခဲ့ခြင်းမှာ တမန်တော်အီစာနှင့် တမန်တော်မြတ်၏ခေတ်မှာ နီးကပ်လျက် ရှိသည်ကတစ်ကြောင်း၊ တမန်တော်အီစာ၏ နောက်တွင် နောက်ဆုံးစွန် ပွင့်တော်မူမည့် တမန်တော်မြတ်မှတစ်ပါး အခြားတမန်တော်တစ်ပါးမျှ ပွင့်ရန်မရှိသည်ကတစ်ကြောင်း တို့ကြောင့်ပင် ဖြစ်တန်ရာသည်။

ယနေ့ ကျွန်ုပ်တို့လက်ဝယ်ရှိ 'တောင်ရာတ်၊ အင်ဂျီလ်' ကျမ်းများသည် မူရင်းအတိုင်း မဟုတ်ပြီ။ သက်ဆိုင်ရာပုဂ္ဂိုလ်များကလည်း ဝန်ခံထားကြပြီးဖြစ်သည်။ ထို့အတွက်ကြောင့် ကုရ်အာန်ကျမ်းမြတ်တွင် အတိအလင်း ထုတ်ဖော်မိန့်ကြားထားတော်မူသည့် အကြောင်းတစ်ရပ်ကို မူရင်းအတိုင်း မဟုတ်တော့သည့် တောင်ရာတ်၊ အင်ဂျီလ်ကျမ်းများတွင် မတွေ့ရသည့်အတွက် မည်သူ၌မျှ ငြင်းပယ်ပိုင်ခွင့်မရှိပေ။ သို့ပင်တစေ ဤသည်လည်း တမန်တော်မြတ်၏ တန်ခိုးတစ်ပါးပင်။

يُرِيدُونَ لِيُطْفِـُٔوا۟ نُورَ ٱللَّهِ
بِأَفْوَٰهِهِمْ وَٱللَّهُ مُتِمُّ نُورِهِۦ
وَلَوْ كَرِهَ ٱلْكَٰفِرُونَ ٨

၈။ ၎င်းတို့သည် အလ္လာဟ်အရှင်မြတ်၏ရောင်ခြည်
ကို မိမိတို့၏ပါးစပ်ဖြင့် ငြိမ်းသတ်လိုကြကုန်၏။
သို့ရာတွင် ကာဖိရ် သွေဖည်ငြင်းပယ်သောသူများ
မနှစ်မြို့ကြငြားသော်လည်း အလ္လာဟ်အရှင်မြတ်မှာ
မူကား မိမိရောင်ခြည်ကို ပြည့်ဝစုံလင်အောင် ပြုတော်
မူမည့် အရှင်မြတ်ပင် ဖြစ်တော်မူ၏။ [၁]

هُوَ ٱلَّذِىٓ أَرْسَلَ رَسُولَهُۥ بِٱلْهُدَىٰ
وَدِينِ ٱلْحَقِّ لِيُظْهِرَهُۥ عَلَى ٱلدِّينِ
كُلِّهِۦ وَلَوْ كَرِهَ ٱلْمُشْرِكُونَ ٩

၉။ ထို အရှင်မြတ်သည် အကြင် အရှင်မြတ်ပင်
ဖြစ်တော်မူ၏။ မုရှ်ရစ်က်တို့သည် မနှစ်မြို့ကြငြား
သော်လည်း ထိုအရှင်မြတ်သည် မိမိ ရစူလ်တမန်တော်
အား တရားလမ်းညွှန်နှင့်တကွလည်းကောင်း၊ ဘာသာ
သာသနာ အလုံးစုံတို့ထက်ဝယ် လွှမ်းမိုးစေတော်မူအံ့
သောငှာ မှန်ကန်သော 'ဒီန်'သာသနာတော်နှင့်တကွ
လည်းကောင်း၊ (ယင်း မှန်ကန်သော သာသနာကို)
စေလွှတ်တော်မူခဲ့ပေသတည်း။

---

(၂) အကြင်သူတစ်ဦးသည် အစ္စလာမ်ဘက်သို့ ဖိတ်ခေါ်ခြင်း ခံနေရပါလျက် အလ္လာဟ်အရှင်မြတ်အားပင် မဟုတ်မမှန် လုပ်ကြံယိုးစွပ်ပြောဆို၏။ ကိုးကွယ်ရာအရှင်ကို လူသား၊ လူသားကို ကိုးကွယ်ရာအရှင် ပြုလုပ်၏။ အမှန်တရားကို ဖုံးကွယ်ထား၏။ မမှန်သော အကြောင်းများပြ၍ တမန်တော်မြတ်အား သွေဖည်၏။ ကောင်းကင်ကျ ကျမ်းဂန်များတွင် မိမိ၏ စိတ်အာသာဆန္ဒအတိုင်း နှုတ်ပယ်၏။ ဖြည့်သွင်း၏။ ရှိသည်ကို မရှိ၊ မရှိသည်ကို အရှိလုပ်၏။ အမျိုးမျိုး ကပြောင်းကပြန် ပြုလုပ်၏။ ထိုသို့သောသူထက် သစ္စာမဲ့သူ၊ ဖောက်ပြန်သူ၊ မတရားသူ၊ ကျူးကျော်စော်ကားသူ အဘယ်သူရှိအံ့နည်း။ ထိုရွေ့ထိုမျှ ကျူးကျော်စော်ကားသူအား အလ္လာဟ်အရှင်မြတ်သည် အဘယ်သို့လျှင် လမ်းမှန်သို့ အဘယ်သို့လျှင် ဆောင်တော်မူအံ့နည်း။

(၁) ဆိုလိုသည်ကား ကာဖိရ်၊ မုရှ်ရစ်က်များသည် အလ္လာဟ်အရှင်မြတ်၏ လင်းရောင်ခြည်တည်းဟူသော အစ္စလာမ်ရောင်ခြည်ကို မိမိတို့၏ နှုတ်များဖြင့် မှုတ်၍ အလွယ်တကူ ငြိမ်းသတ်လိုကြ၏။

တစ်နည်း မိမိတို့၏နှုတ်များဖြင့် မဟုတ်မမှန် လုပ်ကြံပြောဆို၍ အစ္စလာမ်ကို တိုက်ဖျက်လိုကြ၏။ သို့ရာတွင် ၎င်းတို့သည် အဘယ်မျှပင် အစ္စလာမ်ကို တိုက်ဖျက်လိုကြလင့်ကစား အစ္စလာမ်၏သူရိယနေမင်းကြီးကား အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်ဖြင့် တစ်နေ့တစ်ခြား ပို၍ပို၍သာ လင်းဝင်း တောက်ပလျက်နေမည်သာ။

အလ္လာဟ်အရှင်မြတ်သည် အစ္စလာမ် လင်းရောင်ခြည်ကို ထာဝစဉ် လင်းဝင်းတောက်ပနေစေတော်မူရန် အလို့ငှာ မည်သို့မည်ပုံ စီစဉ်ထားတော်မူသည့်အကြောင်းကို ရှေ့အာယတ်တော်တွင် မိန့်ဆိုထားတော်မူသည်။

يَٰٓأَيُّهَا ٱلَّذِينَ ءَامَنُوا۟ هَلْ أَدُلُّكُمْ عَلَىٰ تِجَٰرَةٍ تُنجِيكُم مِّنْ عَذَابٍ أَلِيمٍ ⑩

၁၀။ အို-'မုအ်မင်န်' သက်ဝင်ယုံကြည်သူ အပေါင်းတို့၊ အသင်တို့အား အလွန်တရာ နာကျင်ဖွယ်ဖြစ်သော ပြစ်ဒဏ်မှ လွတ်မြောက်စေအံ့သော ကူးသန်းရောင်းဝယ် ဖောက်ကားမှုကို ငါအရှင်မြတ်သည် အသင်တို့အား ညွှန်ပြတော်မူရမည်လော။

تُؤْمِنُونَ بِٱللَّهِ وَرَسُولِهِۦ وَتُجَٰهِدُونَ فِى سَبِيلِ ٱللَّهِ بِأَمْوَٰلِكُمْ وَأَنفُسِكُمْ ۚ ذَٰلِكُمْ خَيْرٌ لَّكُمْ إِن كُنتُمْ تَعْلَمُونَ ⑪

၁၁။ အသင်တို့သည် အလ္လာဟ်အရှင်မြတ်အားလည်းကောင်း၊ ထိုအရှင်မြတ်၏ ရစူလ်တမန်တော်မြတ်အားလည်းကောင်း၊ သက်ဝင်ယုံကြည်ကြရပေမည်။ ၎င်းပြင် အသင်တို့သည် မိမိတို့ ပစ္စည်းဥစ္စာများဖြင့်လည်းကောင်း၊ မိမိတို့၏အသက်ဇီဝိန်များဖြင့်လည်းကောင်း၊ အလ္လာဟ်အရှင်မြတ်၏ လမ်းတော်၌ သက်စွန့်ကြိုးပမ်းကြရပေမည်။ ဤသည် အကယ်၍ အသင်တို့ သိရှိကြသည်ဖြစ်မူ အသင်တို့အဖို့အကောင်းဆုံးပင်ဖြစ်၏။ [၁]

---

(၁) **နှစ်ဘဝစလုံးတွင် အရှုံးမရှိသည့် ရောင်းဝယ်မှု။**

အလ္လာဟ်အရှင်မြတ်သည် အစ္စလာမ့် လင်းရောင်ခြည်ကို အမြဲထာဝစဉ် လင်းဝင်း တောက်ပနေစေတော်မူမည်သာဖြစ်သည်။ အစ္စလာမ်ဝါဒကို ကမ္ဘာအနှံ့ ပျံ့နှံ့နေစေတော်မူမည်သာဖြစ်သည်။ ဤသည် အလ္လာဟ်အရှင်မြတ်၏ အလုပ်ပင်။

မွတ်စ်လင်မ်တို့၏ တာဝန်မှာကား 'အီမာန်' သက်ဝင်ယုံကြည်မှုအပေါ်တွင် တည့်မတ်စွာရပ်တည်ကာ ထိုအရှင်မြတ်၏လမ်းတော်တွင် မိမိတို့၏ဥစ္စာပစ္စည်းကို စွန့်ကြဲ၍လည်းကောင်း၊ အသက်များကို စွန့်လျှု၍လည်းကောင်း၊ 'ဂျီဟာဒ်' ပြုလုပ်ကြရပေမည်၊ သက်စွန့်ကြိုးပမ်းကြရပေမည်။ ဤသည် နှစ်ဘဝစလုံးတွင် အရှုံးမရှိသော ရောင်းဝယ်မှုပင်။

လူ့လောကတွင် လူများသည် မိမိနှင့်တကွ မိမိ၏သားသမီးများ၏ စားဝတ်နေရေး အဆင်ပြေရန်၊ ကသီလင်တမဖြစ်စေရန်၊ ဥစ္စာပစ္စည်း အရင်းအနှီး မပျက်စီးစေရန်၊ အမြတ်အစွန်းရရှိရန်နှင့် ဥစ္စာပစ္စည်း တိုးပွားချမ်းသာကြွယ်ဝရန်အတွက် အမျိုးမျိုး အရောင်းအဝယ်ပြုလုပ်ကြသည်၊ အရောင်းအဝယ်ပြုလုပ်ရာတွင် အရင်းအနှီးများကို ထည့်သွင်းကြသည်။

သို့ရာတွင် မွတ်စ်လင်မ်များသည် မိမိတို့၏ ဥစ္စာပစ္စည်းနှင့် အသက်ဇီဝိန်တည်းဟူသော အရင်းအနှီးကို အလွန့်အလွန် မြင့်မြတ်သော ရောင်းဝယ်မှုတွင် ထည့်သွင်းကြပေသည်။ ထိုရောင်းဝယ်မှုသည် ဤမျက်မှောက်ဘဝတွင် ထာဝစဉ်ဆုံးရှုံးရမည့် မဟာအရှုံးကြီး ဖြစ်သည့်အတိုင်း မသိနာကျင်ဖွယ်ဖြစ်ဘိသော ငရဲဒဏ်မှလည်း လွတ်မြောက်စေမည်ဖြစ်သည်။ အမြော်အမြင်ရှိပါက၊ သိတတ်ပါက ဤသည့်အရောင်းအဝယ်သည် လောကီဆိုင်ရာ အရောင်းအဝယ်အားလုံးတို့ထက် သာလွန်ကြီးကဲ မြင့်မြတ်လှပေသည်။ ▷▷

يَغْفِرْ لَكُمْ ذُنُوبَكُمْ وَيُدْخِلْكُمْ جَنّٰتٍ تَجْرِيْ مِنْ تَحْتِهَا الْاَنْهٰرُ وَمَسٰكِنَ طَيِّبَةً فِيْ جَنّٰتِ عَدْنٍ ۭ ذٰلِكَ الْفَوْزُ الْعَظِيْمُ ۝١٢

၁၂။ ထိုအရှင်မြတ်သည် အသင်တို့၏ ပြစ်မှုဒုစရိုက်များကို ခွင့်လွှတ်တော်မူပေမည်။ ထို့ပြင် ထိုအရှင်မြတ်သည် အသင်တို့အား အကြင်ဥယျာဉ်များသို့ ဝင်ရောက်စေတော်မူပေမည်။ ယင်းဥယျာဉ်များ၏အောက်မှ ချောင်းများသည် စီးတွေလျက်ရှိကြပေမည်။ ထိုမှတစ်ပါး (ထိုအရှင်မြတ်သည် အသင်တို့အား) အကြင်နေအိမ်များသို့ ဝင်ရောက်စေတော်မူပေမည်။ ထိုနေအိမ်များမှာ အမြဲထာဝစဉ် နေထိုင်ရအံ့သောဥယျာဉ်များဝယ် ရှိကြပေမည်။ ထိုသည် ကြီးကျယ်လှစွာသော အောင်မြင်မှုပင်။

وَاُخْرٰى تُحِبُّوْنَهَا ۭ نَصْرٌ مِّنَ اللّٰهِ وَفَتْحٌ قَرِيْبٌ ۭ وَبَشِّرِ الْمُؤْمِنِيْنَ ۝١٣

၁၃။ ထိုမှတစ်ပါး အသင်တို့ နှစ်သက်ကြကုန်သော အခြား(အကျိုးကျေးဇူး)တစ်ပါးကိုလည်း (ထိုအရှင်မြတ်သည် အသင်တို့အား ချီးမြှင့်တော်မူပေမည်။ ယင်းသည်) အလ္လာဟ်အရှင်မြတ်အထံတော်မှ ကူညီစောင်မမှုပင်၊ နီးကပ်စွာသောအောင်နိုင်မှုပင်။ ၎င်းပြင် (အို-နဗီတမန်တော်) အသင်သည် 'မုအ်မင်န်' သက်ဝင်ယုံကြည်သူတို့အား သတင်းကောင်းပြောကြားပါလေ။

يٰٓاَيُّهَا الَّذِيْنَ اٰمَنُوْا كُوْنُوْٓا اَنْصَارَ اللّٰهِ كَمَا قَالَ عِيْسَى ابْنُ مَرْيَمَ لِلْحَوَارِيّٖنَ مَنْ اَنْصَارِيْٓ اِلَى

၁၄။ အို-'မုအ်မင်န်' သက်ဝင်ယုံကြည်သူအပေါင်းတို့၊ အသင်တို့သည် 'မရ်ယမ်' ၏သားတော် (နဗီတမန်တော်'အီစာ')က 'ဟဝါရီ'တို့အား ပြောကြားဘိသကဲ့သို့ပင် အလ္လာဟ်အရှင်မြတ်(၏ 'ဒီန်' သာသနာတော်)ကို ကူညီသူများပင် ဖြစ်ကြလေကုန်။

➤➤ အဘယ်ကြောင့်ဆိုသော် ယင်း၏အမြတ်အစွန်းမှာ လုံးဝလွတ်ငြိမ်းချမ်းသာခွင့်နှင့် ထာဝစဉ်စံစားရမည့် 'ဂျန္နတ်'အမတသုခဘုံပင်ဖြစ်သည်။ ဤသည်ထက် ကြီးကဲမြင့်မြတ်သော အမြတ်အစွန်းသည် အဘယ် အရောင်းအဝယ် ရှိနိုင်အံ့နည်း။ ဤသည်ထက် ကြီးကဲမြင့်မြတ်သော အောင်မြင်မှုသည် အဘယ်မှာလျှင် ရှိနိုင်အံ့နည်း။

اللّٰهِ ۖ قَالَ الْحَوَارِيُّوْنَ نَحْنُ أَنْصَارُ اللّٰهِ فَاٰمَنَتْ طَّآئِفَةٌ مِّنْۢ بَنِيْٓ إِسْرَآءِيْلَ وَكَفَرَتْ طَّآئِفَةٌ ۖ فَأَيَّدْنَا الَّذِيْنَ اٰمَنُوْا عَلٰى عَدُوِّهِمْ فَأَصْبَحُوْا ظٰهِرِيْنَ ﴿١٤﴾

(မရ်ယမ်၏သားတော် 'အီစာ' က 'ဟဝါရီ' တို့အား) အလ္လာဟ်အရှင်မြတ်၏လမ်းတော်၌ ငါ့အား မည်သူများကူညီမည်နည်း(ဟု ပြောကြားခဲ့ရာ) 'ဟဝါရီ' တို့က အလ္လာဟ်အရှင်မြတ်(၏ 'ဒီန်'သာသနာတော်)ကို ကျွန်ုပ်တို့ကူညီကြပါမည်ဟု ပြောဆိုခဲ့ကြကုန်၏။ [၁]

ထို့နောက် အစ္စရာအီလီမျိုးနွယ်ဝင်တို့အနက် လူတစ်စုမှာ သက်ဝင်ယုံကြည်ခဲ့ကြ၍ လူတစ်စုမှာ သွေဖည်ငြင်းပယ်ခဲ့ကြလေ၏။ ထိုအခါ ငါအရှင်မြတ်သည် သက်ဝင်ယုံကြည်ခဲ့ကြသောသူတို့အား ၎င်းတို့၏ ရန်သူများအပေါ်၌ ကူညီစောင်မတော်မူခဲ့ပေရာ ၎င်းတို့မှာ အောင်နိုင်ခဲ့ကြကုန်သတည်း။ [၂]

---

(၁) တမန်တော်အီစာ (အလိုင်ဟစ္စလာမ်) သည် ဆန့်ကျင်သူများနှင့် ရန်သူများ၏ သွေဖည်ဆန့်ကျင်မှုများကို အလူးအလိမ့် ခံနေတော်မူခဲ့ရရာသည့်အချိန်တွင် မိမိ၏ 'ဟဝါရီ' တပည့်ရင်းများအား 'အလ္လာဟ်အရှင်မြတ်၏ လမ်းတော်၌ ငါ့အားအသူများ ကူညီမည်နည်း'ဟု မေးမြန်းတော်မူခဲ့ရာ၊ တပည့်ရင်းများက 'ကျွန်တော်တို့သည် အလ္လာဟ်အရှင်မြတ်၏ လမ်းတော်၌ (အသင့်အား) ကူညီပါမည်ဟု' အလိုက်သည်းလိုက် အဖြေပေးခဲ့ကြလေသည်။

ဆိုလိုသည်ကား တမန်တော်အီစာ၏ တပည့်ရင်းများသည် အလ္လာဟ်အရှင်မြတ်၏ လမ်းတော်၌ တမန်တော်အီစာအား ဤမျက်မှောက်ဘဝတွင်လည်း စွမ်းစွမ်းတမံကူညီခဲ့ကြ၏။ တမန်တော်အီစာ၏နောက်တွင်လည်း သက်စွန့်ကြိုးပမ်း ဆောင်ရွက်ခဲ့ကြ၏။ ထို့အတွက်ကြောင့်ပင် တမန်တော်အီစာ၏ သာသနာသည် အံ့ဖွယ်သရဲ တိုးပွားပျံ့နှံ့လာခဲ့ပေသည်။ မွတ်စ်လင်မ်များသည်လည်း တမန်တော်အီစာ၏ နောက်လိုက်များကဲ့သို့ပင် အလ္လာဟ်အရှင်မြတ်၏ လမ်းတော်၌ သက်စွန့်ကြိုးပမ်းဆောင်ရွက်ကြရပေမည်။

(၂) ဆိုလိုသည်ကား အစ္စရာအီလီမျိုးနွယ်တွင် အုပ်စုတစ်စုသည် အီမာန်ယုံကြည်မှုအပေါ်၌ ရပ်တည်နေခဲ့၏။ အုပ်စုတစ်စုသည် သွေဖည်ဖောက်ပြန်သွားခဲ့၏။ တမန်တော်အီစာ၏နောက်တွင် အဆိုပါအုပ်စုနှစ်ခုသည် အချင်းချင်း အငြင်းပွားနေခဲ့ကြ၏။ ခိုက်ရန် ဖြစ်ပွားနေခဲ့ကြ၏။

နောက်ဆုံးတွင် အလ္လာဟ်အရှင်မြတ်သည် အီမာန်ယုံကြည်မှုအပေါ်၌ ရပ်တည်နေခဲ့သောအုပ်စုကို ဖောက်ပြန်သွေဖည်သွားခဲ့သော အုပ်စုအပေါ်၌ လွှမ်းမိုးစေတော်မူခဲ့လေသည်။

# ဂျုမုအဟ် သောကြာနေ့ ကဏ္ဍ



ဤကဏ္ဍသည် 'ဂျုမုအဟ်' သောကြာနေ့ ကဏ္ဍ မည်၏။ မဒီနာမြို့၌ ကျရောက်ခဲ့၏။
ဤကဏ္ဍတွင် အာယတ်တော် (၁၁)ပါးနှင့် ရကူအ်အပိုဒ် (၂)ပိုဒ် အသီးသီးပါရှိ၏။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ ○

မပြတ်မစဲ သနားကြင်နာ ညှာတာတော်မူသော၊ မဟာကရုဏာတော်ရှင် ဖြစ်တော်မူသော အလ္လာဟ်အရှင်မြတ်၏ နာမံတော်ဖြင့် အစပြုပါ၏။

يُسَبِّحُ لِلّٰهِ مَا فِى السَّمٰوٰتِ وَمَا فِى الْاَرْضِ الْمَلِكِ الْقُدُّوْسِ الْعَزِيْزِ الْحَكِيْمِ ①

၁။ မိုးကောင်းကင်များ၌ ရှိသမျှတို့သည်လည်း ကောင်း၊ ပထဝီမြေ၌ရှိသမျှတို့သည်လည်းကောင်း၊ စိုးမိုးအုပ်ချုပ်တော်မူသော၊ စင်ကြယ်သန့်ရှင်း အပြစ်ကင်းတော်မူသော၊ အလွန်တရာ ခန့်ညားတော်မူသော၊ လွန်စွာနူးညံ့သိမ်မွေ့သော၊ ဆင်ခြင်တုံတရားနှင့် ပြည့်စုံတော်မူသော အလ္လာဟ်အရှင်မြတ်၊ စင်ကြယ်သန့်ရှင်းတော်မူကြောင်းကို မြွက်ဆိုလျက် ရှိကြကုန်၏။ [၁]

---

(၁) စကြာဝဠာအဝန်း၌ရှိကုန်သော သက်ရှိသက်မဲ့ ခပ်သိမ်းကုန်တို့သည် တန်ခိုးတော်ကြီးမြင့်ခြင်းနှင့်၊ ဉာဏ်တော်မြင့်မြတ်ခြင်းတို့နှင့် ပြည့်စုံတော်မူသော အလ္လာဟ်အရှင်မြတ်အား ကိုယ့်နည်း ကိုယ့်ဟန်ဖြင့် ဂုဏ်တော်မွမ်းလျက် ရှိကြကုန်၏။

ထိုအရှင်မြတ်သည် ခပ်သိမ်းကုန်သော တန်ခိုးအာဏာအပေါင်းတို့နှင့် ပြည့်စုံတော်မူသော၊ ချုပ်ချယ်မှုအပေါင်းနှင့် လုံးဝကင်းစင်တော်မူသော ဘုရင်လည်း ဖြစ်တော်မူ၏။ ထိုအရှင်မြတ်သည် ချို့တဲ့မှုအပေါင်းနှင့်လည်း လုံးဝစင်ကြယ် သန့်ရှင်းတော်မူ၏။

ခပ်သိမ်းကုန်သော တန်ခိုးအာဏာအပေါင်းတို့သည် ထိုအရှင်မြတ်၏ လက်တော်တွင်း၌သာရှိ၏။ ထိုအရှင်မြတ်သည် အရာခပ်သိမ်းကုန်တို့ကို နိုင်နင်းလွှမ်းမိုးတော်မူလျက်ရှိ၏။ ထိုအရှင်မြတ်သည် အလွန်နက်နဲသော၊ အလွန်သိမ်မွေ့သော ကျိုးကြောင်းဆင်ခြင်တုံတရားများနှင့်လည်း ပြည့်စုံတော်မူလှပေ၏။ အလ္လာဟ်အရှင်မြတ်၏ ဂုဏ်တော်များကား အလွန်တရာ ကြီးမြတ်ပေတည်း။

ထိုအရှင်မြတ်၏ ကျေးဇူးတော်များကား အသချေ် အသင်္ချာတည်း။

ထိုအရှင်မြတ်ကပင် တမန်တော်မြတ် မုဟမ္မဒ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)အား စေလွှတ်တော်မူခဲ့၏။ ဤသည်လည်း အတိုင်းမသိ ကြီးမားဘိသော ကျေးဇူးတော်တစ်ပါးပင်။ ဤအကြောင်းကို ရှေ့အာယတ်တော်တွင် မိန့်ဆိုထားတော်မူသည်။

هُوَ الَّذِي بَعَثَ فِي الْأُمِّيِّينَ رَسُولًا مِّنْهُمْ يَتْلُو عَلَيْهِمْ آيَاتِهِ وَيُزَكِّيهِمْ وَيُعَلِّمُهُمُ الْكِتَابَ وَالْحِكْمَةَ وَإِن كَانُوا مِن قَبْلُ لَفِي ضَلَالٍ مُّبِينٍ ﴿٢﴾

၂။ ထိုအရှင်မြတ်သည်ပင် စာပေ မတတ်သောသူတို့ထံ ၎င်းတို့အနက်မှပင် ရစူလ်တမန်တော်တစ်ပါးကို စေလွှတ်တော်မူခဲ့၏။ ထိုရစူလ်တမန်တော်သည် ၎င်းတို့ရှေ့ဝယ် ထိုအရှင်မြတ်၏အာယတ်တော်များကို ဖတ်ကြားလေ၏။ ထို့ပြင် ၎င်းတို့အား စင်ကြယ်သန့်ရှင်းအောင်ပြုလုပ်လေ၏။ ထိုမှတစ်ပါး ထိုသူတို့အား ကျမ်းဂန်ကိုလည်းကောင်း၊ ဉာဏ်ပညာကိုလည်းကောင်း၊ သင်ကြားပို့ချလေ၏။ စင်စစ်မှာမူကား ၎င်းတို့သည် ယခင်က ထင်ရှားစွာသော လမ်းမှားမှု၌ပင် ရှိနေခဲ့ကြကုန်၏။

وَآخَرِينَ مِنْهُمْ لَمَّا يَلْحَقُوا بِهِمْ ۚ وَهُوَ الْعَزِيزُ الْحَكِيمُ ﴿٣﴾

၃။ ထိုမှတစ်ပါး (ထိုအရှင်မြတ်သည်) ၎င်းတို့အနက်မှ ၎င်းတို့နှင့်လာရောက်ပူးပေါင်းခြင်း မရှိကြသေးသောသူတို့အဖို့လည်း (ထိုရစူလ်တမန်တော်အား စေလွှတ်တော်မူခဲ့၏)။ စင်စစ်သော်ကား ထိုအရှင်မြတ်သည် လွန်စွာ ခန့်ညားတော်မူသောအရှင်၊ လွန်စွာနူးညံ့သိမ်မွေ့သော ဆင်ခြင်တုံတရားနှင့် ပြည့်စုံတော်မူသော အရှင်မြတ်ပင်။

ذَٰلِكَ فَضْلُ اللَّهِ يُؤْتِيهِ مَن يَشَاءُ ۚ وَاللَّهُ ذُو الْفَضْلِ الْعَظِيمِ ﴿٤﴾

၄။ ထိုသည်ကား အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်ပင်၊ ထိုအရှင်မြတ်သည် မိမိအလိုရှိတော်မူသောသူအား ယင်းကျေးဇူးတော်ကို ချီးမြှင့်ပေးသနားတော်မူ၏။ စင်စစ်မှာမူကား အလ္လာဟ်အရှင်မြတ်သည် ကြီးကျယ်သော ကျေးဇူးတော်ကို ပိုင်ဆိုင်တော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

مَثَلُ الَّذِينَ حُمِّلُوا التَّوْرَاةَ ثُمَّ لَمْ يَحْمِلُوهَا كَمَثَلِ الْحِمَارِ

၅။ 'တောင်ရာတ်' ကျမ်းတော်နှင့်စပ်လျဉ်း၍ တာဝန်ပေးခြင်းကို ခံခဲ့ကြရပြီးနောက် ယင်း 'တောင်ရာတ်' ကျမ်းတော်ကို (တာဝန်ကျေပွန်စွာ) ထမ်းဆောင်ခြင်း မရှိခဲ့ကြသောသူတို့၏ဥပမာကား ကျမ်းစာအုပ်များကို

يَحۡمِلُ أَسۡفَارَۢاۚ بِئۡسَ مَثَلُ ٱلۡقَوۡمِ ٱلَّذِينَ كَذَّبُواْ بِـَٔايَٰتِ ٱللَّهِۚ وَٱللَّهُ لَا يَهۡدِي ٱلۡقَوۡمَ ٱلظَّٰلِمِينَ ۝٥

တင်ဆောင်လျက်ရှိသော မြည်းတိရစ္ဆာန်၏ ဥပမာကဲ့သို့ပင်၊ အလ္လာဟ်အရှင်မြတ်၏အာယတ်တော်များကို မဟုတ်မမှန်ဟူ၍ စွပ်စွဲငြင်းပယ်ခဲ့ကြလေသောလူမျိုး၏ ဥပမာကား လွန်စွာ ယုတ်ညံ့လှပေ၏။ [၁] စင်စစ်တမူကား အလ္လာဟ်အရှင်မြတ်သည် မတရားသောသူတို့အား လမ်းမှန်သို့ ပို့ပေးတော်မူသည်မဟုတ်ပေ။

قُلۡ يَٰٓأَيُّهَا ٱلَّذِينَ هَادُوٓاْ إِن زَعَمۡتُمۡ أَنَّكُمۡ أَوۡلِيَآءُ لِلَّهِ مِن دُونِ ٱلنَّاسِ فَتَمَنَّوُاْ ٱلۡمَوۡتَ إِن كُنتُمۡ صَٰدِقِينَ ۝٦

၆။ (အို-နဗီတမန်တော်) အသင်သည် ပြောကြားပါလေ။ အို-'ရေဝတီ' ဖြစ်ကြသောသူတို့၊ အကယ်၍ အသင်တို့သည် အခြားသူများမပါဘဲ မိမိတို့သည်သာလျှင် အလ္လာဟ်အရှင်မြတ်၏အချစ်တော်များ ဖြစ်ကြသည်ဟု ထင်မှတ်ကြလျှင်၊ အကယ်၍ အသင်တို့သည် (ယင်းသို့ ထင်မှတ်ပြောဆိုရာ၌) သစ္စာဝါဒီများ ဖြစ်ကြလျှင်၊ 'မရဏ' သေခြင်းတရားကို တောင့်တဆန္ဒပြုကြလေကုန်။

---

(၁) အလ္လာဟ်အရှင်မြတ်သည် ယင်းကျမ်းကို တမန်တော်မူစာအပေါ်သို့ ချပေးတော်မူခဲ့၏။ ရေဝတီများအား ထမ်းဆောင်စေတော်မူခဲ့၏။ သို့တစေလည်း ရေဝတီများသည် တောင်ရာတ်ကျမ်းလာ တရားတော်များကို လျစ်လျူပြုထားခဲ့ကြ၏။ မလိုက်နာမကျင့်သုံးခဲ့ကြပေ။ ကောင်းစွာလည်း ထိန်းသိမ်းမထားခဲ့ကြပေ။ ကောင်းစွာမထိန်းသိမ်းခဲ့ကြသည်သာမက ယင်းကျမ်းမြတ်တွင် အမျိုးမျိုး ကပြောင်းကပြန် ပြုလုပ်ခဲ့ကြ၏။

ရေဝတီများသည် တောင်ရာတ်ကျမ်းကို ထိန်းသိမ်းရန် တာဝန်ပေးတော်မူခြင်း ခံခဲ့ကြရသည်ကား မှန်၏။ သို့သော်လည်း ၎င်းတို့သည် ယင်းကျမ်းဖြင့် မည်သို့မျှ အကျိုးမခံစားခဲ့ကြပေ။ သို့ဖြစ်ရာ ၎င်းတို့သည် အလွန်အဖိုးတန်သော ကျမ်းများကို မိမိ၏ကျောကုန်းပေါ်၌ တင်ဆောင်သွားနေသော မြည်းတိရစ္ဆာန်ပမာ ဖြစ်နေခဲ့ကြ၏။

မြည်းတိရစ္ဆာန်တစ်ကောင်အပေါ်၌ အလွန်အဖိုးထိုက်တန်သော ကျမ်းများကို တင်ဆောင်ထားသော်လည်း၊ ယင်းမြည်းတိရစ္ဆာန်အဖို့မှာကား အဆိုပါကျမ်းများ၏ အလေးချိန်အောက်တွင် ပိနေရသည်မှတပါး အခြားမည်သို့မျှ အကျိုးခံစားနိုင်မည်မဟုတ်ပေ။ မြည်း၏ကျောကုန်းပေါ်၌ အလွန်အဖိုးထိုက်တန်သော ရွှေ၊ ငွေ၊ ကျောက်သံပတ္တမြား စသည့်ရတနာများကို တင်ထားသည်ဖြစ်စေ၊ ကျောက်တုံးကျောက်ခဲများကို တင်ထားသည်ဖြစ်စေ မြည်းအဖို့ကား အသို့မျှမထူးခြားပေ။မြည်းသည်စိမ်းစိုသောမြက်ကိုသာအလိုရှိပေသည်။

အကယ်၍ မိမိ၏ကျောကုန်းပေါ်၌ တင်ဆောင်ထားသည့် ကျမ်းများကို အကြောင်းပြု၍ ကျွန်ုပ်သည် ရှေးမပညာရှင်ကြီး၊ ရှေးမဂုဏ်အသရေရှိသူကြီးဖြစ်သည်ဟု ထင်မှတ်ပါက ဤသည် ပို၍ မြည်းတိရစ္ဆာန်ဖြစ်မှု၏ အကျိုးပင်ဖြစ်ချိမ့်မည်။

وَلَا يَتَمَنَّوْنَهُ أَبَدًا بِمَا قَدَّمَتْ أَيْدِيهِمْ ۚ وَاللَّهُ عَلِيمٌ بِالظَّالِمِينَ ٧

၇။ သို့ရာတွင် ၎င်းတို့သည် မိမိတို့၏လက်များက တင်ကြိုပို့နှင့်ခဲ့သောအကျင့်အမူတို့ကြောင့် ယင်း 'မရဏ' သေခြင်းတရားကို မည်သည့်အခါမျှပင် တောင့်တ ဆန္ဒပြုကြမည်မဟုတ်ပြီ။ စင်စစ်တမူကား အလ္လာဟ် အရှင်မြတ်သည် မတရားသောသူတို့အား ကောင်းစွာ သိရှိတော်မူသောအရှင်မြတ်ပင် ဖြစ်တော်မူ၏။

قُلْ إِنَّ الْمَوْتَ الَّذِي تَفِرُّونَ مِنْهُ فَإِنَّهُ مُلَاقِيكُمْ ۖ ثُمَّ تُرَدُّونَ إِلَىٰ عَالِمِ الْغَيْبِ وَالشَّهَادَةِ فَيُنَبِّئُكُمْ بِمَا كُنْتُمْ تَعْمَلُونَ ٨

၈။ (အို-နဗီတမန်တော်) အသင်သည် ပြောကြားပါလေ။ (အချင်းတို့) အသင်တို့ ထွက်ပြေးတိမ်းရှောင်လျက်ရှိသော 'မရဏ' သေခြင်းတရားမှာ ဧကန်မလွဲ အသင်တို့နှင့် တွေ့ဆုံမည်ပင်ဖြစ်၏။ ထို့နောက် အသင်တို့သည် လျှို့ဝှက်စွာ ရှိသည်တို့ကိုလည်းကောင်း၊ ထင်ရှားစွာ ရှိသည်တို့ကိုလည်းကောင်း၊ အကြွင်းမဲ့ သိတော်မူသော အရှင်မြတ်အထံတော်သို့ ပြန်လည်ရောက်စေခြင်းကို ခံကြရပေမည်။ ထိုအခါ ထိုအရှင်မြတ်သည် အသင်တို့အား အသင်တို့ ကျင့်မူခဲ့ကြသည်တို့ကို သိစေတော်မူအံ့သတည်း။

يَا أَيُّهَا الَّذِينَ آمَنُوا إِذَا نُودِيَ لِلصَّلَاةِ مِنْ يَوْمِ الْجُمُعَةِ فَاسْعَوْا إِلَىٰ ذِكْرِ اللَّهِ وَذَرُوا الْبَيْعَ ۚ ذَٰلِكُمْ خَيْرٌ لَكُمْ إِنْ كُنْتُمْ تَعْلَمُونَ ٩

၉။ အို-'မုအ်မင်န်' သက်ဝင်ယုံကြည်သူအပေါင်းတို့ (ဂျုမုအဟ်)သောကြာနေ့တွင် 'ဆွလာတ်' ဝတ်ပြုအံ့သောငှာ 'အဇာန်' ပေးသောအခါ အသင်တို့သည် အလ္လာဟ်အရှင်မြတ်အား တ,သ သတိရရှိရာသို့ အဆောတလျင်သွားကြလေကုန်။ ထိုမှတစ်ပါး အသင်တို့သည် ရောင်းဝယ်မှုကို စွန့်လွှတ်ကြလေကုန်။ အသင်တို့ သိရှိကြသည်ဖြစ်မူ အသင်တို့အဖို့ အကောင်းဆုံးပင်။ [၁]

---

(၁) **'ဂျုမုအဟ်' ဆွလာတ်ဝတ်ပြုမှု ဂရုပြု။**

မွတ်စ်လင်မ်များသည် 'ဂျုမုအဟ်' သောကြာနေ့ ဆွလာတ်ဝတ်ပြုမှုကို အထူးဂရုပြုကြရမည်။ ဂျုမုအဟ် ဆွလာတ်ဝတ်ပြုရန် သက်ဆိုင်ရာ 'မုအတ်ဇ္ဇင်န်' 'အဇာန်'ဆိုသူက 'အဇာန်' ဆိုလိုက်သည့်အခါ ရောင်းဝယ်ဖောက်ကားမှုစသည့် လောကီရေးရာအားလုံးကို စွန့်လွှတ်ကာ အလ္လာဟ်အရှင်မြတ်၏ တရားဓမ္မတော်ကို နားသောတဆင်ရန်၊ သောကြာ ဆွလာတ်ဝတ်ပြုရန်အတွက် သက်ဆိုင်ရာ 'ဂျာမိအ်' ဗလီကြီးများသို့ အချိန်မီ ➤➤

➤➤ သွားကြရပေမည်။ အချိန်မီသွားရောက်ပြီးလျှင် တရားဓမ္မတော်ကို ကောင်းမွန်စွာ နားထောင်ကြရမည်၊ ဆွလာတ် ဝတ်ပြုကြရမည်။

ဤအာယတ်တော်တွင် ပါရှိသည့် 'ဇစ်က်ရုလ္လာက်' 'အလ္လာဟ်အရှင်မြတ်အား အောက်မေ့ တသ သတိရမှု' ဟူသောစကားသည် သောကြာဆွလာတ်အလျင် သက်ဆိုင်ရာ 'အေမာမ်'ရှေ့ကဖတ်ကြားသော တရားဓမ္မတော်ကိုဆိုလိုသည်။ ဤတွင် သောကြာဆွလာတ်ဝတ်ပြုမှုလည်း အကျုံးဝင်ပေသည်။ကြည့်-အွတ်ဆ်မာနီ။

ဤအာယတ်တော်အရ သောကြာနေ့တွင် သောကြာဆွလာတ်ဝတ်ပြုရန် အဇာန်ဆိုလိုက်သည့်အချိန်မှ သောကြာဆွလာတ်ပြီးဆုံးသည့် အချိန်အထိ ရောင်းဝယ်ဖောက်ကားမှုအစုစုသည် 'ဟရာမ်' ဖြစ်သည်။ လုံးဝမပြုရ။

**<u>မှတ်ချက်။</u>**

ဤအာယတ်တော်တွင် ပါရှိသော 'အဇာန်'ဟူသည် သောကြာနေ့တွင် သောကြာဆွလာတ် ဝတ်မပြုမီ အလျင်သက်ဆိုင်ရာ (အေမာမ်)ရှေ့ဆောင်၏ရှေ့၌ဆိုသော 'အဇာန်'ကို ဆိုလိုသည်။

တမန်တော်မြတ်လက်ထက် သမ္မတကြီး အဗူဗတ်က်ရ်နှင့်သမ္မတကြီးအုမရ်တို့လက်ထက်တွင် အဆိုပါ 'အဇာန်'ပင်ရှိခဲ့၏။ သမ္မတကြီး အုဆ်မာန်၏လက်ထက်တွင်မူ မွတ်စ်လင်မ်ဦးရေ အလွန် များပြားလာသည့်အခါ (ဆွဟာဗဟ်)သာဝကကြီးများအားလုံးတို့၏ 'အိဂျ်မာအ်' အများသဘောတူ ဆုံးဖြတ်ချက်အရ၊အထက်တွင် ဖော်ပြပါ 'အဇာန်' အလျင် နောက်ထပ် 'အဇာန်'တစ်ခု တိုးလာခဲ့ပေသည်။

ဤသို့အားဖြင့် သောကြာဆွလာတ် ဝတ်ပြုရာတွင် 'အဇာန်' နှစ်ကြိမ် ဆိုရသည်။ သောကြာနေ့ ရောင်းဝယ်ဖောက်ကားမှု 'ဟရာမ်' ဖြစ်ရာတွင် ပထမ 'အဇာန်'နှင့် ဒုတိယ'အဇာန်'သည် အတူတူ ပင်ဖြစ်ပေသည်။ (ဝါ) သောကြာနေ့တွင် နောက်တိုး အဇာန်၊ တစ်နည်း ပထမအဇာန် ဆုံးသည့်အချိန်မှစ၍ ရောင်းဝယ်မှုသည် ဟရာမ်ဖြစ်သွားပေသည်။

**<u>မှတ်ချက်။</u>**

သောကြာနေ့ သောကြာဆွလာတ် ဝတ်မပြုမီ သက်ဆိုင်ရာ အေမာမ်က ဖတ်ကြားသော (ခွတ္တဗဟ်) ခေါ် တရားဓမ္မတော်ကို ဆိတ်ငြိမ်စွာ နားထောင်ခြင်းသည် အရေးကြီးလှပေသည်။

တမန်တော်မြတ်က 'အကြင်သူသည် သောကြာနေ့ (ခွတ္တဗဟ်) တရားဓမ္မ ဟောကြားနေသည့် အချိန်တွင် စကားပြောကြားအံ့၊ ထိုသူသည် ကျောက်ကုန်းပေါ်၌ ကျမ်းဂန်များ တင်ဆောင်ထားသော မြည်းသတ္တဝါနှင့်တူအံ့' ဟူ၍ပင် မိန့်ကြားတော်မူခဲ့ပေသည်။

'ဂျုမုအဟ်' နေ့ကို 'ဂျုမုအဟ်'နေ့ဟု အဘယ်ကြောင့်ခေါ်သည်၊ 'ဂျုမုအဟ်'နေ့သည် မည်သို့မည်ပုံ ထူးခြားသည်၊ မည်ရွေ့မည်မျှ မြင့်မြတ်သည်၊ 'ဂျုမုအဟ် ဆွလာတ်သည် မည်သူတို့အပေါ်၌ တာဝန်ရှိသည်၊ ဂျုမုအဟ်ဆွလာတ်အတွက် မည်သို့မည်ပုံ ကြိုတင်စီစဉ်ရသည်၊ မည်သို့မည်ပုံ ဝတ်ကောင်းစားကောင်း ဝတ်ဆင်ရသည်၊ မည်သို့မည်ပုံ အမွှေးအကြိုင် လိမ်းရသည်၊ ဂျုမုအဟ်နေ့တွင် ဆုတောင်းပြည့် အချိန်တစ်ချိန်ရှိသည်၊

ဂျုမုအဟ်ဆွလာတ်ကို တစ်နေရာတွင် စုပေါင်း၍ ပြုခြင်းအားဖြင့် မည်သို့မည်ပုံ လောကီလောကုတ္တရာ ဆိုင်ရာ အကျိုးရှိသည်များကား စိတ်ဝင်စားဖွယ် ကောင်းလှပေသည်။ သုတေသီများ လေ့လာဆည်းပူးလိုပါက အိဗ်နုကဆီရ် ကျမ်းအစောင် (၄)၊ စာမျက်နှာ (၃၆၅-၃၆၇) တွင် ရှုပါကုန်။

فَإِذَا قُضِيَتِ الصَّلَوٰةُ فَانتَشِرُوا فِي الْأَرْضِ وَابْتَغُوا مِن فَضْلِ اللَّهِ وَاذْكُرُوا اللَّهَ كَثِيرًا لَّعَلَّكُمْ تُفْلِحُونَ ⑩

၁၀။ ထို့နောက် 'ဆွလာတ်' ဝတ်ပြုမှု ပြီးဆုံးခဲ့သောအခါ အသင်တို့သည် ပထဝီမြေဝယ် အနှံ့အပြား သွားလာကြလျက် အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်တည်းဟူသော ရိက္ခာကို ဖွေရှာဆည်းပူးကြလေကုန်။ ထိုမှတစ်ပါး အသင်တို့သည် အလ္လာဟ်အရှင်မြတ်အား များစွာ တ,သ သတိရလျက် ရှိကြလေကုန်။ *သို့မှသာလျှင် အသင်တို့သည် အောင်မြင်ကြကုန်အံ့သတည်း။* [၁]

وَإِذَا رَأَوْا تِجَارَةً أَوْ لَهْوًا انفَضُّوا إِلَيْهَا وَتَرَكُوكَ قَائِمًا ۚ قُلْ مَا عِندَ اللَّهِ خَيْرٌ مِّنَ اللَّهْوِ وَمِنَ التِّجَارَةِ ۚ وَاللَّهُ خَيْرُ الرَّازِقِينَ ⑪ ع

၁၁။ စင်စစ်သော်ကား ထိုသူတို့သည် အရောင်းအဝယ်၊ ရောင်းကုန်ဝယ်ကုန်ကိုသော်လည်းကောင်း၊ ပျော်ပွဲရွှင်ပွဲကိုသော်လည်းကောင်း၊ တွေ့မြင်ခဲ့ကြလေသောအခါ အသင့်အား မတ်တတ်ရပ်လျက် ထားခဲ့ပြီးလျှင် ယင်းရောင်းကုန်ဝယ်ကုန် သို့မဟုတ် ပျော်ပွဲရွှင်ပွဲရှိရာသို့ ကစဉ့်ကလျားပြေး၍ သွားခဲ့ကြကုန်၏။ (အို-နဗီတမန်တော်) အသင်သည် ပြောကြားပါလေ။ (အချင်းတို့၊) အလ္လာဟ်အရှင်မြတ်အထံတော်၌ရှိသော အရာသည် ရောင်းကုန်ဝယ်ကုန်ထက်လည်းကောင်း၊ ပျော်ပွဲရွှင်ပွဲထက်လည်းကောင်း၊ မွန်မြတ်လှပေသည်။ ထိုမှတစ်ပါး အလ္လာဟ်အရှင်မြတ်သည် ရိက္ခာချီးမြှင့်တော်မူသော *အကောင်းဆုံးသော အရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။* [၂]

---

(၁) 'ဂျုမုအဟ်' သောကြာ ဆွလာတ် ဝတ်ပြုပြီးဆုံးသည့်အခါ မွတ်စ်လင်မ်များသည် ကမ္ဘာမြေအနှံ့အပြားသို့ သွားလာ၍ အလ္လာဟ်အရှင်မြတ်၏ ရိက္ခာတော်ကို ရှာဖွေဆည်းပူးနိုင်ကြပေသည်။ သို့ရှာဖွေဆည်းပူးရာတွင်လည်း အလ္လာဟ်အရှင်မြတ်အား မမေ့ကြရာ၊ ထိုအရှင်မြတ်အား များစွာ အောက်မေ့တသ သတိရကြရပေမည်။

မွတ်စ်လင်မ်များသည် ယင်းသို့ သာသနာ့တာဝန်များကိုလည်း ကျေပွန်ကြမည်၊ ရောင်းဝယ်ဖောက်ကားမှု စသည့် လောကီရေးရာများကို ဆောင်ရွက်ရာတွင်လည်း အလ္လာဟ်အရှင်မြတ်အား များစွာတသ သတိရကြမည်ဆိုပါက 'လက်ဝါးမြေခတ်မလွဲ' အောင်မြင်ကြမည်သာတည်း။

(၂) 'သောကြာနေ့ ဂျုမုအဟ်ဆွလာတ်၏ နောက်တွင် ရောင်းဝယ်ဖောက်ကားမှုပြုသူ၏ ရောင်းဝယ် ▶▶

➤➤ ဖောက်ကားမှုတွင် အလ္လာဟ်အရှင်မြတ်သည် အဆပေါင်း(၇၀) တိုးပွားစေတော်မူကြောင်း အတိတ်ခေတ်အချို့ အာလင်မ်ပညာရှင် သူတော်စင်များထံမှ ကြားသိရပေသည်။ ကြည့်-အိဗ်နကဆီရ်။ အ-၄။ စ-၃၆၇။

(၂) တစ်ကြိမ်သော် တမန်တော်မြတ်သည် သောကြာနေ့တွင် သောကြာ 'ခွတ္တဗဟ်' တရားဓမ္မ ဟောကြားနေတော်မူခဲ့၏။ ထိုအချိန်တွင်ပင် ကုန်သည်များသည် အပြင်မှစားကုန်၊ သောက်ကုန်များ ယူဆောင်၍ ရောက်ရှိလာခဲ့ကြ၏။ ကြေညာသည့်သဘောဖြင့် ဗုံပတ်များလည်း တီးလိုက်ကြ၏။ မြို့တွင်း၌ ယခင်ကတည်းကပင် စားနပ်ရိက္ခာ ခေါင်းပါးနေခဲ့၏။

ထိုအခါ အချို့ပုဂ္ဂိုလ်များသည် စားနပ်ရိက္ခာဝယ်ယူနိုင်ရန်အတွက် အဆိုပါ ကုန်သည်များထံသို့ အပြေးအလွှား ထွက်ခွာသွားခဲ့ကြ၏။ (ယင်းသို့ထွက်ခွာသွားခဲ့သော ပုဂ္ဂိုလ်များသည် သောကြာနေ့ 'ခွတ္တဗဟ်' မှာလည်း အခြားတရားဓမ္မမျိုးပင်ဖြစ်သည်။ ယင်းသို့သော တရားဓမ္မကမူပင် အရေးအကြောင်းရှိက ထသွားနိုင်ပေသည်။ သို့ဖြစ်ရာ ငါတို့သည် သောကြာဆွလာတ်ဝတ်ပြုမှုကို အချိန်မီ ပြန်လာပြီး ပြုကြမည်ဟု တွေးထင်ခဲ့ကြဟန်တူ၏။ သို့မဟုတ် ထိုအချိန်တွင် သောကြာဆွလာတ်သည် ပြီးဆုံးနေပြီးဖြစ်ပေမည်။

အချို့အဆိုအရ ထိုအချိန်တွင် သောကြာဆွလာတ်ကို သောကြာခွတ္တဗဟ်အလျင် ပြုလေ့ရှိခဲ့ကြ၏။ အသို့ပင်ရှိစေ တမန်တော်မြတ် ခွတ္တဗဟ် ဖတ်ကြားနေတော်မူစဉ် ကုန်သည်များထံသို့ ထသွားခဲ့ကြသော ပုဂ္ဂိုလ်များသည် သောကြာခွတ္တဗဟ် အဘယ်မျှအရေးကြီးသည်ကိုကား ကောင်းစွာမသိခဲ့ကြပေ။ တမန်တော်မြတ်ထံတော်ပါး၌ ပုဂ္ဂိုလ် (၁၂) ဦးသာလျှင် ကျန်ရစ်ခဲ့ကြ၏။ ယင်း (၁၂) ဦးတွင် (ခလီဖဟ်) သမ္မတကြီး (၄) ပါးလည်း အပါအဝင်ဖြစ်၏။ ထိုအခါ ဤအာယတ်တော် ကျရောက်လာခဲ့ပေသည်။

ဆိုလိုသည်ကား လောကီရေးရာ ရောင်းဝယ်ဖောက်ကားမှုနှင့် ပျော်ပွဲရွှင်ပွဲများသည် အလ္လာဟ်အရှင်မြတ်ထံတော်၌ရှိသော ထာဝရအမတ သုခများနှင့်စာလျှင် အသို့မျှ အဖိုးမတန်ပေ၊ မွတ်စ်လင်မ်များသည် ယင်းသည့် အမတသုခချမ်းသာကိုသာ ဆည်းပူးကြရာသည်။

ယင်းသည့်အမတသုခများကို ခံစားလိုကြပါက တမန်တော်မြတ် ဖတ်ကြားတော်မူသည့် ခွတ္တဗဟ်တရားဓမ္မတော်များကို ကြားနာကြပေမည်၊ တမန်တော်မြတ်ထံ ချဉ်းကပ်ကြရပေမည်။ အလ္လာဟ်အရှင်မြတ်အား ဝတ်ပြုရန်၊ အောက်မေ့တသ သတိရရန် ပြုလုပ်သည့် အစုအဝေးများ၊ တရားသဘင်များတွင် စိတ်ရောကိုယ်ပါ ပါဝင်ကြရပေမည်။

ရိက္ခာသည် အလ္လာဟ်အရှင်မြတ်၏ လက်တော်တွင်း၌ရှိသည်။ ထိုအရှင်မြတ်သည် ရိက္ခာအကောင်းဆုံးပေးတော်မူသော အရှင်ဖြစ်တော်မူသည်။ သို့ဖြစ်ရာ ထိုအရှင်မြတ်၏ ကျွန်များသည် စားနပ်ရိက္ခာနှင့်စပ်လျဉ်း၍ မပူပန်ကြရာ၊ မစိုးရိမ်ကြရာ။

ယင်းသို့ သတိပေးတော်မူခြင်း ခံကြရပြီးနောက်ပိုင်းတွင် (ဆွဟာဗဟ်) သာဝကကြီးများသည် အလ္လာဟ်အရှင်မြတ်အား အောက်မေ့တသ သတိရမှုမှ တွေဝေတိမ်းပါးစေသည့် လောကီရေးကိစ္စ အဝဝကို အံ့ဖွယ်သရဲ ရှောင်ကြဉ်လာနိုင်ခဲ့ကြပေသည်။ သာသနာရေးရာ တာဝန်များကိုလည်း ကျေပွန်စွာ ဆောင်ရွက်နိုင်ခဲ့ကြပေသည်။ ဤသည့်အကြောင်းကို ကုရ်အာန် (၂၄း၃၇) တွင် ထုတ်ဖော်မိန့်ဆိုထားတော်မူသည်။

# မွတ်စ်လင်မ်အယောင်ဆောင်များကဏ္ဍ




ဤကဏ္ဍသည် 'မုနာဖိကူန်' မုစ်လင်မ်အယောင်ဆောင်များ ကဏ္ဍမည်၏။ မဒီနာမြို့၌ ကျရောက်ခဲ့၏။ ဤကဏ္ဍတွင် အာယတ်တော် (၁၁)ပါးနှင့် ရကူအ်အပိုဒ် (၂)ပိုဒ် အသီးသီးပါရှိ၏။

بِسْمِ اللَّهِ الرَّحْمَٰنِ الرَّحِيمِ

မပြတ်မစဲ သနားကြင်နာ ညှာတာတော်မူသော၊
မဟာကရုဏာတော်ရှင် ဖြစ်တော်မူသော၊
အလ္လာဟ်အရှင်မြတ်၏ နာမံတော်ဖြင့် အစပြုပါ၏။

إِذَا جَاءَكَ الْمُنَافِقُونَ قَالُوا نَشْهَدُ إِنَّكَ لَرَسُولُ اللَّهِ وَاللَّهُ يَعْلَمُ إِنَّكَ لَرَسُولُهُ وَاللَّهُ يَشْهَدُ إِنَّ الْمُنَافِقِينَ لَكَاذِبُونَ ①

၁။ 'မုနာဖစ်က်' အယောင်ဆောင် မုစ်လင်မ်တို့သည် အသင့်ထံလာခဲ့ကြသောအခါ 'မုချကေန် အသင်သည် အလ္လာဟ်အရှင်မြတ်၏ ရစူလ်တမန်တော် ဖြစ်ကြောင်း ကျွန်တော်များ သက်သေခံကြပါသည်' ဟု ပြောဆိုကြကုန်၏။ အမှန်စင်စစ်သော်ကား အလ္လာဟ်အရှင်မြတ်သည် အသင် ထိုအရှင်မြတ်၏ ရစူလ်တမန် ဖြစ်ကြောင်း ကောင်းစွာ သိရှိတော်မူ၏။ သို့ရာတွင် အလ္လာဟ်အရှင်မြတ်သည် ဧကန်မလွဲ 'မုနာဖစ်က်' အယောင်ဆောင်မုစ်လင်မ်တို့မှာ မုသာဝါဒီများ ဖြစ်ကြောင်း သက်သေခံတော်မူ၏။

اتَّخَذُوا أَيْمَانَهُمْ جُنَّةً فَصَدُّوا عَنْ سَبِيلِ اللَّهِ إِنَّهُمْ سَاءَ مَا كَانُوا يَعْمَلُونَ ②

၂။ ၎င်းတို့သည်ကား မိမိတို့၏ကျိန်ဆိုချက်များကို အကာအကွယ်ပြုလုပ်ပြီးလျှင် (သူတစ်ပါးတို့အား) အလ္လာဟ်အရှင်မြတ်၏လမ်းတော်မှ တားဆီးပိတ်ပင်ခဲ့ကြလေ၏။ ဧကန်စင်စစ် ၎င်းတို့၏ပြုမူချက်များမှာ လွန်စွာ ဆိုးရွားလှ၏။ [၁]

---

(၁) <u>အစွလာမ့်အရေခြုံများ။</u>

မုနာဖစ်က်များသည် အကယ် မွတ်စ်လင်မ်မဟုတ်၊ အခြေအနေအရ မိမိတို့၌ တစ်စုံတစ်ရာ ဘေးမသက်ရန် အစ္စလာမ့်အရေခြုံထားသော မွတ်စ်လင်မ် အယောင်ဆောင် ကာဖိရ်များသာလျှင် ဖြစ်ခဲ့ကြ၏။ တမန်တော်မြတ်ထံ ရောက်ရှိလာကြသည့်အခါ 'ကေန်မုချ အသင်သည် အလ္လာဟ်အရှင်မြတ်၏ ➤➤

ذٰلِكَ بِاَنَّهُمْ اٰمَنُوْا ثُمَّ كَفَرُوْا فَطُبِعَ عَلٰى قُلُوْبِهِمْ فَهُمْ لَا يَفْقَهُوْنَ ﴿٣﴾

၃။ ထိုသို့ဖြစ်ရခြင်းမှာ ၎င်းတို့သည် သက်ဝင်ယုံကြည်ခဲ့ကြပြီးနောက် သွေဖည်ငြင်းပယ်ခဲ့ကြသောကြောင့်ပင်။ သို့ဖြစ်ပေရာ ၎င်းတို့သည် နားလည်ကြသည် မဟုတ်ပြီ။

وَاِذَا رَاَيْتَهُمْ تُعْجِبُكَ اَجْسَامُهُمْ ؕ وَاِنْ يَّقُوْلُوْا تَسْمَعْ لِقَوْلِهِمْ ؕ كَاَنَّهُمْ خُشُبٌ مُّسَنَّدَةٌ ؕ يَحْسَبُوْنَ كُلَّ صَيْحَةٍ عَلَيْهِمْ ؕ هُمُ الْعَدُوُّ فَاحْذَرْهُمْ ؕ قَاتَلَهُمُ اللّٰهُ ۫ اَنّٰى يُؤْفَكُوْنَ ﴿٤﴾

၄။ ထို့ပြင် (အို-နဗီတမန်တော်) အသင်သည် ၎င်းတို့အား တွေ့မြင်သောအခါ ၎င်းတို့၏ လုံးရုပ်သဏ္ဌာန်များသည် အသင်၏အမြင်၌ လှပစွာ မြင်ရပေမည်။ ထိုနည်းတူစွာ အကယ်၍ ၎င်းတို့သည် စကားစမည် ပြောဆိုကြလျှင် အသင်သည် ၎င်းတို့၏စကားကို (စိတ်ဝင်စားစွာ) နားထောင်ပေမည်။

၎င်းတို့မှာ မှီ၍ထားသော သစ်တုံးများကဲ့သို့ပင်ဖြစ်ကြကုန်၏။ ဟစ်အော်သံ(ကြားရ)တိုင်း မိမိတို့နှင့်ဆန့်ကျင်၍ (ဟစ်အော်သည်ဟု) ထင်မှတ်ကြ၏။ ၎င်းတို့သည်ပင် ရန်သူများ ဖြစ်ကြ၏။ သို့ဖြစ်ရာ အသင်သည် ၎င်းတို့နှင့် ကင်းရှင်းစွာ နေပါလေ။ အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့အား ဖျက်ဆီးတော်မူပါစေ။ ၎င်းတို့သည် အဘယ်သို့ ပြန်လှည့်၍ ထွက်သွားကြသနည်း။

---

➤➤ တမန်တော်ဖြစ်ပါသည်' ဟု စိတ်တွင်းမပါ၊ နှုတ်ဖြင့်သာ လိမ်လည်ပြောဆိုခဲ့ကြ၏။ ၎င်းတို့၏လိမ်လည်မှုတစ်ခုခု ပေါ်ပေါက်လာသည့်အခါ မျက်စိမှိတ်၍ ကျိန်ဆိုလေ့ရှိခဲ့ကြ၏။ မိမိတို့၏ လိမ်လည်မှုများကို ကာကွယ်ရန် ကျိန်ဆိုမှုကို ဒိုင်းကြီးတစ်ခု ပြုလုပ်ထားခဲ့ကြ၏။

၎င်းတို့သည် အစ္စလာမ့်အရေခြုံကာ အစ္စလာမ်ကို မိမိတို့ကိုယ်တိုင် မနာယူခဲ့ကြသည်သာမက သူတစ်ပါးတို့အားလည်း အစ္စလာမ်ကို နာယူခြင်းမှ အမျိုးမျိုးတားဆီးပိတ်ပင်နေခဲ့ကြ၏။ တမန်တော်မြတ်နှင့်ပတ်သက်၍လည်း 'နားချဉ် နားခါး၊ စကားချော်ပျက်၊ နှုတ်သွမ်းသက်နှင့်၊ ပြက်ရိပြက်ရယ်၊ ဆိုပျက်ပြယ်လျက်၊ ချုပ်ချယ်စော်ကား' နေခဲ့ကြ၏။ အမှန်မှာ မုနာဖစ်က်များသည် အစ္စလာမ့်အရေခြုံကာ 'အရိပ်ခိုခိုအခက်ချိုးချိုး' ဆိုသကဲ့သို့ အစ္စလာမ်ကို နည်းပရိယာယ် အမျိုးမျိုးတို့ဖြင့် အနှောင့်အယှက်ပေးခဲ့ကြသော မွတ်စ်လင်မ်တို့အား ပူးသတ်ခဲ့ကြသော အစ္စလာမ့် အရေခြုံ သူပုန်များပင်ဖြစ်ခဲ့ကြ၏။

မုနာဖစ်က်များအကြောင်း အကြိမ်ကြိမ်ပါရှိခဲ့ချေပြီ။ ကြည့်-ကုရ်အာန်(၂း၈-၂၀)။(၂း၂၀၄)။

وَإِذَا قِيلَ لَهُمْ تَعَالَوْا يَسْتَغْفِرْ لَكُمْ رَسُولُ اللَّهِ لَوَّوْا رُءُوسَهُمْ وَرَأَيْتَهُمْ يَصُدُّونَ وَهُم مُّسْتَكْبِرُونَ ﴿٥﴾

၅။ ၎င်းပြင် ထိုသူတို့အား 'အသင်တို့သည် လာကြလေကုန်၊ အလ္လာဟ်အရှင်မြတ်၏ရစူလ်တမန်တော်မြတ်သည် အသင်တို့အဖို့ လွတ်ငြိမ်းခွင့်ကို ပန်ကြား၍ပေးမည်'ဟု ပြောဆိုသောအခါ ၎င်းတို့သည် မိမိတို့၏ဦးခေါင်းများကို လှုပ်ခါကြကုန်၏။ ထို့ပြင် (အို-နဗီတမန်တော်) အသင်သည် ၎င်းတို့အား မာန်မာနထောင်လွှားကြလျက် ပြန်လှည့်၍ သွားကြသည်ကို တွေ့မြင်ရပေမည်။ [၁]

سَوَاءٌ عَلَيْهِمْ أَسْتَغْفَرْتَ لَهُمْ أَمْ لَمْ تَسْتَغْفِرْ لَهُمْ لَن يَغْفِرَ اللَّهُ لَهُمْ إِنَّ اللَّهَ لَا يَهْدِي الْقَوْمَ الْفَاسِقِينَ ﴿٦﴾

၆။ အသင်သည် ၎င်းတို့အဖို့ လွတ်ငြိမ်းခွင့်ကို ပန်ကြားသည်ဖြစ်စေ၊ ၎င်းတို့အဖို့ လွတ်ငြိမ်းခွင့်ကို ပန်ကြားခြင်းမပြုသည်ဖြစ်စေ၊ ၎င်းတို့အဖို့ အကြောင်းမထူးပြီ။ ဧကန်အမှန် အလ္လာဟ်အရှင်မြတ်သည် *အမိန့်တော်ကို သွေဖည်သောသူတို့အား တရားလမ်းမှန်သို့ ပို့ပေးတော်မူသည် မဟုတ်ပေ။* [၂]

---

(၁) တစ်ခါတစ်ရံ မုနာဖစ်က်များ၏ ယုတ်မာမှု၊ သစ္စာဖောက်မှု တစ်ခုခုသည် ပေါ်လွင်သွားခဲ့၏။ လူသိရှင်ကြားဖြစ်သွားခဲ့၏။ လူများက ၎င်းတို့အား (ယခုလည်းအချိန်ရှိသည်)၊ အသင်တို့သည် တမန်တော်မြတ်ထံသွားရောက်၍ မိမိတို့၏အမှားကို ဝန်ခံကြလျှင် တမန်တော်မြတ်သည် အသင်တို့အဖို့ လွတ်ငြိမ်းခွင့် ပန်ကြားပေးတော်မူလိမ့်မည်။ တမန်တော်မြတ်က လွတ်ငြိမ်းခွင့် ပန်ကြားပေးတော်မူလျှင် အလ္လာဟ်အရှင်မြတ်သည် အသင်တို့အား ချမ်းသာခွင့်ပေးတော်မူလိမ့်မည်'ဟု စေတနာကောင်းဖြင့် ပြောခဲ့ကြ၏။ ထိုအခါ မုနာဖစ်က်များသည် မောက်မာပလွှားစွာဖြင့် ဦးခေါင်းခါ၍ ပြခဲ့ကြ၏။ အချို့မုနာဖစ်က်များကမူ 'ငါတို့သည် တမန်တော်မြတ်၏ လွတ်ငြိမ်းခွင့်ပန်ကြားပေးမှုကို အလိုမရှိ'ဟူ၍ပင် မိုက်မဲစွာ ပြောဆိုခဲ့ကြလေသည်။

(၂) တမန်တော်မြတ်သည် ကမ္ဘာ့အဝန်းအား ကရုဏာပွားရန်အလို့ငှာ ပွင့်လာတော်မူခဲ့သော တမန်တော်ဖြစ်တော်မူသည်။ ရန်သူမိတ်ဆွေမခြား အားလုံးတို့အား သနားကြင်နာတော်မူလေ့ရှိသည်။

ထို့အတွက်ကြောင့် တမန်တော်မြတ်သည် ယင်းသို့သော မုနာဖစ်က်များအတွက်လည်း လွတ်ငြိမ်းခွင့် ပန်ကြားပေးတော်မူနိုင်ပေသည်။ သို့တစေလည်း အလ္လာဟ်အရှင်မြတ်သည် ထိုရွေ့ထိုမျှကမ်းကုန်အောင် သွေဖည်ဆိုးမိုက်နေသော မုနာဖစ်က်များကိုမူ မုနာဖစ်က်ဖြစ်နေသမျှ ကာလပတ်လုံး ရိုးသားစွာ (အီမာန်) မယုံကြည်ကြသမျှ ကာလပတ်လုံး ဘယ်သောအခါ၌မျှ ချမ်းသာခွင့် ပေးတော်မူမည်မဟုတ်ပေ။

တမန်တော်မြတ်သည် ၎င်းတို့အဖို့ လွတ်ငြိမ်းခွင့် ပန်ကြားသည်ပင်ဖြစ်စေ၊ မပန်ကြားသည်ပင်ဖြစ်စေ ၎င်းတို့အဖို့မှာကား မထူးပြီ။ ဤကား ကမ်းကုန်အောင် သွေဖည်မှု၏ အကျိုးပင်၊ 'မည်သူ မပြုမိမိမှု'ဆိုသကဲ့သို့ ကိုယ့်ပြစ်ဒဏ် ကိုယ်ခံရမည်ပင်။ ဤသည့်သဘောကိုကုရ်အာန်(၉း၈၀)တွင်လည်း မိန့်ဆိုထားတော်မူသည်။

هُمُ الَّذِينَ يَقُولُونَ لَا تُنفِقُوا عَلَىٰ مَنْ عِندَ رَسُولِ اللَّهِ حَتَّىٰ يَنفَضُّوا ۗ وَلِلَّهِ خَزَائِنُ السَّمَاوَاتِ وَالْأَرْضِ وَلَٰكِنَّ الْمُنَافِقِينَ لَا يَفْقَهُونَ ⑦

၇။ ၎င်းတို့ကပင် 'အသင်တို့သည် ရစူလ်တမန်တော်မြတ်၏ထံတော်ပါး၌ရှိနေကြသော သူတို့အပေါ်၌ ၎င်းတို့ ကစဥ့်ကလျား ဖြစ်သွားကြသည်အထိ သုံးစွဲခြင်းကို မပြုကြကုန်လင့်' ဟူ၍ ပြောဆိုခဲ့ကြကုန်၏။ စင်စစ်သော်ကား မိုးကောင်းကင်များ၌ ရှိကုန်သော ဘဏ္ဍာတော်များသည်လည်းကောင်း၊ ပထဝီမြေ၌ ရှိကုန်သော ဘဏ္ဍာတော်များသည်လည်းကောင်း၊ အရှင်မြတ်ပိုင်ဆိုင်တော်မူသော ဘဏ္ဍာတော်များသာ ဖြစ်ကုန်၏။ သို့ရာတွင် 'မုနာဖစ်က်' အယောင်ဆောင်မုစ်လင်မ်တို့သည် နားလည်ကြသည် မဟုတ်ပေ။ ①

يَقُولُونَ لَئِن رَّجَعْنَا إِلَى الْمَدِينَةِ لَيُخْرِجَنَّ الْأَعَزُّ مِنْهَا الْأَذَلَّ ۚ وَلِلَّهِ الْعِزَّةُ وَلِرَسُولِهِ وَلِلْمُؤْمِنِينَ وَلَٰكِنَّ الْمُنَافِقِينَ لَا يَعْلَمُونَ ⑧

၈။ ၎င်းတို့ကပင် (ယခုသော်) ကျွန်ုပ်တို့သည် 'မဒီနာ'မြို့သို့ ပြန်၍သွားခဲ့ကြလျှင် ဂုဏ်အသရေ အားအင်ရှိသူတို့သည် ဂုဏ်အသရေ အားအင်မဲ့သော သူတို့အား ထိုမြို့မှ ဧကန်မလွဲ နှင်ထုတ်ကြပေမည်' ဟူ၍(လည်း) ပြောဆိုကြကုန်၏။ စင်စစ်မှာမူကား ဂုဏ်အသရေ အားအင်ဟူသည် အလ္လာဟ်အရှင်မြတ်၌သာလည်းကောင်း၊ ထိုအရှင်မြတ်၏ရစူလ်တမန်တော်မြတ်၌သာလည်းကောင်း၊ 'မုအ်မင်န်' သက်ဝင် ယုံကြည်သူတို့၌သာလည်းကောင်း၊ ရှိပေသည်။ သို့တစေလည်း 'မုအ်မင်န်' အယောင်ဆောင်တို့မှာမူကား သိရှိကြသည် မဟုတ်ပေ။

① အမှန်မှာ ဤမိုးဤမြေနှင့်တကွ စကြာဝဠာအဝန်းရှိ ဘဏ္ဍာတော်အားလုံးကို အလ္လာဟ်အရှင်မြတ်သာလျှင် ပိုင်ဆိုင်တော်မူသည်။ 'မုဟာဂျိရ်'များသည် အလ္လာဟ်အရှင်မြတ်၏ လမ်းတော်တွင် မိမိတို့ ဇာတိချက်မြှုပ်မြို့ရွာများကိုစွန့်၍ ထိုအရှင်မြတ်၏ ကျေနပ်နှစ်သက်မှုကို ဆည်းပူးရန် ထွက်လာခဲ့ကြသော အလ္လာဟ်ချစ်၊ တမန်တော်ချစ်၊ သာသနာချစ်ပုဂ္ဂိုလ်များပင် ဖြစ်ကြသည်။ စားဝတ်နေရေးတွင် ဒုက္ခအမျိုးမျိုးကို အပြုံးနှင့်ရဲရဲရင်ဆိုင်ကာ တမန်တော်မြတ်ထံတွင် ချဥ်းကပ်၍ သာသနာရေးရာများကို လက်တွေ့ဆည်းပူးလျက်ရှိကြသည်။ ယင်းသို့သော ပုဂ္ဂိုလ်များအား သကြိုဟ်ထောက်ပံ့ခွင့် ရရှိခြင်းသည်ပင် မင်္ဂလာတစ်ပါးပင်၊ မြင့်မြတ်လှသော ကုသိုလ်တစ်ရပ်ပင်။ ➤➤

يَٰٓأَيُّهَا ٱلَّذِينَ ءَامَنُوا۟ لَا تُلْهِكُمْ أَمْوَٰلُكُمْ وَلَآ أَوْلَٰدُكُمْ عَن ذِكْرِ ٱللَّهِ ۚ وَمَن يَفْعَلْ ذَٰلِكَ فَأُو۟لَٰٓئِكَ هُمُ ٱلْخَٰسِرُونَ ⑨

၉။ အို-'မုအ်မင်န်' သက်ဝင်ယုံကြည်သူအပေါင်းတို့၊ အသင်တို့ကို အလ္လာဟ်အရှင်မြတ်အား တ,သ သတိရခြင်းမှ အသင်တို့၏ ပစ္စည်းဥစ္စာများသည်လည်း လျစ်လျူရှု ပေါ့တန်စေခြင်း မရှိစေရ။ အသင်တို့ သားသမီးများသည်လည်း လျစ်လျူရှု ပေါ့တန်စေသည် မရှိစေရ။ စင်စစ်သော်ကား မည်သူမဆို ထိုသည်ကို ပြုမူသည်ရှိသော် ထိုကဲ့သို့ သူတို့သည်သာလျှင် ဆုံးရှုံးသူများ ဖြစ်ကုန်၏။ [၁]

وَأَنفِقُوا۟ مِن مَّا رَزَقْنَٰكُم مِّن قَبْلِ أَن يَأْتِىَ أَحَدَكُمُ ٱلْمَوْتُ فَيَقُولَ رَبِّ لَوْلَآ أَخَّرْتَنِىٓ

၁၀။ ထိုမှတစ်ပါး အသင်တို့အနက် တစ်ဦးတစ်ယောက်၏ထံသို့ 'မရဏ' သေခြင်းတရား ဆိုက်ရောက်မလာမီပင် အသင်တို့သည် မိမိတို့အား ငါအရှင်မြတ် ချီးမြှင့် ပေးသနားတော်မူခဲ့သည်များအနက်မှ သုံးစွဲ (လှူဒါန်း)ကြလေကုန်။

➤➤ ယခုသော် မုနာဖစ်က်များက ယင်းသို့သော ပုဂ္ဂိုလ်မွန်များအား မကူညီမထောက်ပံ့ရန် သက်ဆိုင်ရာတို့ကို ညွှန်ကြားလျက်ရှိကြပေသည်။ ဤသည်ထက် ဆိုးရွားသော စေတနာ၊ ဤသည်ထက် ပုပ်သောနှလုံးသားကား အဘယ်မှာလျှင် ရှိနိုင်တော့အံ့နည်း။ အကယ်၍ မုနာဖစ်က်များနှင့် ၎င်းတို့၏ဘက်တော်များက မုဟာဂျိရ်များအား နေရာထိုင်ခင်းမပေးကြလျှင်၊ မကူညီကြလျှင်၊ ကမ္ဘာဘဏ္ဍာတော်အားလုံးကို စိုးပိုင်တော်မူသော အလ္လာဟ်အရှင်မြတ်က မိမိ၏အချစ်တော်များအား လျစ်လျူပြုထားတော်မူမည်လော၊ ပို၍ပင် ချီးမြှောက်တော်မူမည် မဟုတ်ပါလော။ သိထားအပ်သည်မှာ ယခု ထိုထိုသောမုဟာဂျိရ်များအား နည်းများမဆို ကူညီထောက်ပံ့ခွင့်ရှိနေခြင်းသည်ပင်လျှင် အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်ကြောင့်ပင်။ ထိုအရှင်မြတ်အလိုတော် မရှိပါက ထိုအရှင်မြတ်၏လမ်းတော်တွင် အသူမျှ ပိုက်ဆံတစ်ပြားကိုပင် သုံးစွဲလှူဒါန်းနိုင်ကြမည် မဟုတ်ပေ။ မုနာဖစ်က်များသည် ဤသည်ကိုပင် နားမလည်ခဲ့ကြပေ။

(၁) ဤပစ္စက္ခသည် ခေတ္တခဏသာဓိရ၊ နောင်တမလွန်သည် အမြဲထာဝစဉ်။ ဤဘဝသည် ယာယီ၊ ထိုဘဝသည် အဓိကဖြစ်သည်။ သို့ပါလျက် ဤပစ္စက္ခတွင် နစ်မွန်း၍ နောင်တမလွန်ကို လျစ်လျူပြုထားပါက အမြင့်မြတ်ဆုံး ဘဝကို စွန့်လွှတ်၍ သာမန်ဘဝတွင် လုံးပန်းနေပါက အရှုံးကြီးရှုံးမည်ပင်။

အလ္လာဟ်အရှင်မြတ်အား အောက်မေ့တသ သတိရမှုတွင် ဥစ္စာပစ္စည်း၊ သားသမီးများသည် အဟန့်အတား မဖြစ်ရ။ အကယ်၍ ဥစ္စာပစ္စည်း၊ သားသမီးနှင့်လောကီရေးရာများတွင် နစ်မွန်းပြီး အလ္လာဟ်အရှင်မြတ်အား မေ့လျော့နေပါက နောင်တမလွန်တွင် အရှုံးကြီး ရှုံးမည်သာမက ဤပစ္စက္ခတွင် စိတ်၏ချမ်းသာမှု ရရှိနိုင်မည် မဟုတ်ပေ။ နှစ်ဘဝစလုံး ဆုံးရှုံးရပေမည်။ ဤသည့်သဘောကို ကုရ်အာန်(၂၀း၁၂၄-၁၂၇)တွင်လည်း မိန့်ဆိုထားတော်မူသည်။

إِلَىٰٓ أَجَلٍ قَرِيبٍ فَأَصَّدَّقَ وَأَكُن مِّنَ ٱلصَّٰلِحِينَ ١٠

ထို('မရဏ' သေခြင်းတရားရောက်လာသော) အခါ ထိုသူသည် 'အို-ကျွန်တော်မျိုးအား ဖန်ဆင်း မွေးမြူတော်မူသောအရှင်မြတ်၊ အရှင်မြတ်သည် အဘယ် ကြောင့် ကျွန်တော်မျိုးအား အချိန်ကာလ အနည်းငယ် ရွှေ့ဆိုင်းခွင့် ပေးတော်မမူပါသနည်း။ သို့ပေးတော် မူခဲ့ပါလျှင် ကျွန်တော်မျိုးသည် အလှူဒါနပြုသည့် ပြင် သူတော်ကောင်းတစ်ဦးလည်း ဖြစ်ပါမည်' ဟု လျှောက်ထားပေမည်။ ၁

---

(၁) မိမိတို့ကိုယ်ကိုလည်း အလ္လာဟ်အရှင်မြတ်ပင် မိမိ၏ကျေးဇူးတော်ဖြင့် ဖန်ဆင်းထားတော်မူသည်။ မိမိတို့ဥစ္စာပစ္စည်းများမှာလည်း အလ္လာဟ်အရှင်မြတ်ကပင် ချီးမြှင့်ထားတော်မူသော ဥစ္စာပစ္စည်းများသာလျှင် ဖြစ်ချေသည်။ သို့ဖြစ်ရာ မိမိတို့အား အလ္လာဟ်အရှင်မြတ်က ချီးမြှင့်ထားတော်မူသော ဥစ္စာပစ္စည်းများကို ထိုအရှင်မြတ်၏ လမ်းတော်၌ ကြည်ဖြူစွာ လှူဒါန်းစွန့်ကြဲရမည်သာ။ သို့လှူဒါန်းစွန့်ကြဲပါကလည်း မိမိတို့၏ အကျိုးသာ။

ယခုမူ အလ္လာဟ်အရှင်မြတ်က မိမိချီးမြှင့်ထားတော်မူသော ဥစ္စာပစ္စည်းအားလုံးကိုမဟုတ်၊ အချို့ အဝက်ကိုသာ၊ ဤသည်လည်း မိမိတို့အကျိုးငှာ မိမိ၏လမ်းတော်၌ အချိန်မီလှူဒါန်းစွန့်ကြဲရန် အမိန့်ပေးတော် မူခြင်းမျှဖြစ်သည်။ အလ္လာဟ်အရှင်မြတ်က ချီးမြှင့်ထားတော်မူသော ဥစ္စာပစ္စည်းကို အလ္လာဟ်အရှင်မြတ်၏ လမ်းတော်၌ မိမိတို့၏အကျိုးအတွက် အချို့အဝက် လှူဒါန်းကြရသည်ကိုပင် အကြောင်းမဲ့တွန့်တိုကြသည်။ စေးနှဲကြသည်။ ဤကား မဟာအမှားပင်။

ကျွန်ုပ်တို့သည် အချိန်မီ မသေမီ လှူဒါန်းစွန့်ကြဲကြရပေမည်။ အချိန်ဆွဲနေပါက မရဏသေခြင်း တရားက ကျွန်ုပ်တို့အား စောင့်ဆိုင်းမည်မဟုတ်၊ အချိန်ဆွဲမည်လည်းမဟုတ်။ အလ္လာဟ်အရှင်မြတ် သတ်မှတ် ထားတော်မူသည့်အချိန်တွင် သေခြင်းတရားသည် အပိုအလိုမရှိ အတိအကျ အချိန်မှန် ဆိုက်ရောက်လာမည်ပင်။ ထိုအခါမှ နောင်တရနေသော်လည်း 'မိုးကုန်မှ ထွန်ချ'ဆိုသကဲ့သို့ အသို့မျှ အကျိုးရှိမည်မဟုတ်ပေ။

အလ္လာဟ်အရှင်မြတ်လမ်းတော်၌ စေးနှဲတွန့်တိုသည့်အတွက် မလှူရက်၊ မတန်းရက် နေခဲ့သောသူများ သည် သေခါနီးအချိန်တွင် အလ္လာဟ်အရှင်မြတ်ထံတော်၌ "အရှင်မြတ်၊ ကျွန်တော်မျိုးအား အချိန်အနည်းငယ် ထပ်မံပေးသနားတော်မူပါ၊ ကျွန်တော်မျိုး လှူဒါန်းပါမည်။ သူတော်စင်များတွင် ပါဝင်ပါတော့မည်"ဟု လျှောက်ထား ကြပေမည်။ သို့ရာတွင် 'အလာကောင်းသော်လည်း အခါနှောင်းချေပြီ' ဆိုသကဲ့သို့ အကျိုးကားရှိမည် မဟုတ် တော့ပေ။

သာဝကကြီး အိဗ်နုအဗ္ဗားစ်ထံမှတစ်ဆင့် ကြားသိရသောကျမ်းအရ၊ စေးနှဲတွန့်တို၍ အချိန်မီ အလှူဒါန မပြုမိခဲ့ကြသောသူများသည် အဆိုပါစကားကို ကိယာမတ်နေ့တွင် လျှောက်ထားကြပေမည်ဖြစ်သည်။ ဆိုလိုသည်ကား အရှင်မြတ်သည်ကျွန်တော်မျိုးအား လူ့လောကသို့ ခေတ္တခဏပြန်လွှတ်တော်မူပါသော်၊ ကျွန်တော် မျိုးသည် ယခုတစ်ခါသော် ကောင်းစွာ လှူဒါန်းကာ သူတော်ကောင်း ဖြစ်လာပါမည်ဟူ၏။

وَلَنْ يُّؤَخِّرَ اللّٰهُ نَفْسًا اِذَا جَآءَ اَجَلُهَا ۚ وَاللّٰهُ خَبِيْرٌۢ بِمَا تَعْمَلُوْنَ ﴿١١﴾

၁၁။ စင်စစ်မှာကား အလ္လာဟ်အရှင်မြတ်သည် မည်သူတစ်ဦးတစ်ယောက်ကိုမျှပင် ၎င်းနှင့်ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းပြီးဖြစ်သော အချိန်ကာလ ဆိုက်ရောက်လာခဲ့လျှင် ရွှေ့ဆိုင်းခွင့် အလျှင်း ပြုတော်မူသည် မဟုတ်ပြီ။ ထိုမှတစ်ပါး အလ္လာဟ်အရှင်မြတ်သည် အသင်တို့ ကျင့်မူသမျှတို့ကို အကြွင်းမဲ့ ကြားသိတော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

## سُوْرَةُ التَّغَابُنِ

## အရှုံးအမြတ်ပေါ်လွင်မည့်နေ့ကဏ္ဍ

ဤကဏ္ဍသည် 'တဃာဗွန်' အရှုံးအမြတ်ပေါ်လွင်မည့်နေ့ ကဏ္ဍမည်၏။ မဒီနာမြို့တော်၌ ကျရောက်ခဲ့၏။ ဤကဏ္ဍတွင် အာယတ်တော် (၁၈)ပါးနှင့် ရကူအ်အပိုဒ် (၂)ပိုဒ် အသီးသီးပါရှိ၏။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ

မပြတ်မစဲ သနားကြင်နာ ညှာတာတော်မူသော၊ မဟာကရုဏာတော်ရှင် ဖြစ်တော်မူသော အလ္လာဟ်အရှင်မြတ်၏ နာမံတော်ဖြင့် အစပြုပါ၏။

يُسَبِّحُ لِلّٰهِ مَا فِى السَّمٰوٰتِ وَمَا فِى الْاَرْضِ ۚ لَهُ الْمُلْكُ وَلَهُ الْحَمْدُ ۖ وَهُوَ عَلٰى كُلِّ شَىْءٍ قَدِيْرٌ ﴿١﴾

၁။ မိုးကောင်းကင်များ၌ ရှိသမျှတို့သည်လည်းကောင်း၊ ပထဝီမြေ၌ ရှိသမျှတို့သည်လည်းကောင်း၊ အလ္လာဟ်အရှင်မြတ် စင်ကြယ် သန့်ရှင်းတော်မူကြောင်း မြွက်ဆိုလျက် ရှိကြကုန်၏။

စိုးမိုးအုပ်ချုပ်မှုသည်လည်း ထိုအရှင်မြတ်၌သာ ရှိ၏။ ချီးမွမ်းထောပနာ ဟူဟူသမျှ တို့သည်လည်း ထိုအရှင်မြတ်နှင့်သာ အပ်စပ်၏။ ထိုမှတစ်ပါး ထိုအရှင်မြတ်သည် အရာခပ်သိမ်းတို့ကို စွမ်းဆောင်နိုင်တော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူ၏။

هُوَ الَّذِي خَلَقَكُمْ فَمِنكُمْ كَافِرٌ وَمِنكُم مُّؤْمِنٌ ۚ وَاللَّهُ بِمَا تَعْمَلُونَ بَصِيرٌ ﴿٢﴾

၂။ ထိုအရှင်မြတ်သည်သာ အသင်တို့အား ဖန်ဆင်းတော်မူခဲ့သောအရှင် ဖြစ်တော်မူ၏။ သို့ပါသော်လည်း အသင်တို့အနက်အချို့မှာ သွေဖည်ငြင်းပယ်သူဖြစ်၍ အသင်တို့အနက်အချို့မှာ သက်ဝင်ယုံကြည်သူဖြစ်၏။ စင်စစ်တမူကား အလ္လာဟ်အရှင်မြတ်သည် အသင်တို့ ကျင့်မူသမျှတို့ကို အကြွင်းမဲ့ မြင်တော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူ၏။

خَلَقَ السَّمٰوٰتِ وَالْأَرْضَ بِالْحَقِّ وَصَوَّرَكُمْ فَأَحْسَنَ صُوَرَكُمْ ۖ وَإِلَيْهِ الْمَصِيرُ ﴿٣﴾

၃။ ထိုအရှင်မြတ်သည်ပင် မိုးကောင်းကင်များကိုလည်းကောင်း၊ ပထဝီမြေကိုလည်းကောင်း၊ နက်နဲသိမ်မွေ့သောဆင်ခြင်တုံတရားနှင့်လျော်ညီစွာ ဖန်ဆင်းတော်မူခဲ့၏။ ၎င်းပြင် ထိုအရှင်မြတ်သည် အသင်တို့၏ ပုံပန်းသဏ္ဌာန်ကို ပြုလုပ်တော်မူခဲ့ရာ အသင်တို့၏ ပုံပန်းသဏ္ဌာန်များကို ကောင်းမွန်လှပစွာ ပြုလုပ်တော်မူခဲ့၏။ ထိုမှတစ်ပါး (အသင်တို့၏ နောက်ဆုံး) ပြန်လည်ရာစခန်းမှာလည်း ထိုအရှင်မြတ်ထံတော်၌ပင် ဖြစ်၏။

يَعْلَمُ مَا فِي السَّمٰوٰتِ وَالْأَرْضِ وَيَعْلَمُ مَا تُسِرُّونَ وَمَا تُعْلِنُونَ ۚ وَاللَّهُ عَلِيمٌ بِذَاتِ الصُّدُورِ ﴿٤﴾

၄။ ထိုအရှင်မြတ်သည် မိုးကောင်းကင်များ၌လည်းကောင်း၊ ပထဝီမြေ၌လည်းကောင်း၊ ရှိရှိသမျှတို့ကို သိရှိတော်မူ၏။ ထိုမှတစ်ပါး ထိုအရှင်မြတ်သည် အသင်တို့ လျှို့ဝှက်စွာ ပြုလုပ်သမျှတို့ကိုလည်းကောင်း၊ အသင်တို့ ထင်ရှားစွာ ပြုလုပ်သမျှတို့ကိုလည်းကောင်း၊ သိရှိတော်မူ၏။ ထိုမှတစ်ပါး အလ္လာဟ်အရှင်မြတ်သည် စိတ်နှလုံးများအတွင်း၌ ရှိသမျှတို့ကိုလည်း အကြွင်းမဲ့ သိရှိတော်မူသောအရှင်မြတ်ပင် ဖြစ်တော်မူပေသည်။[၁]

---

(၁) ဆိုလိုသည်ကား မိုးမြေနှင့်တကွ စကြာဝဠာအဝန်းရှိ အရာခပ်သိမ်းကုန်တို့သည် အလ္လာဟ်အရှင်မြတ်အား ကိုယ့်နည်းကိုယ့်ဟန်ဖြင့် ဂုဏ်တော်မွမ်းလျက်ရှိကြကုန်၏။

အကြောင်းသော် စကြာဝဠာအဝန်းကို စိုးမိုးအုပ်ချုပ်မှုအာဏာသည် ထိုအရှင်မြတ်၏ ▷▷

اَلَمۡ یَاۡتِكُمۡ نَبَؤُا الَّذِیۡنَ كَفَرُوۡا مِنۡ قَبۡلُ فَذَاقُوۡا وَبَالَ اَمۡرِهِمۡ وَلَهُمۡ عَذَابٌ اَلِیۡمٌ ۝

၅။ အသင်တို့ထံ (မိမိတို့)အလျှင် သွေဖည်ငြင်းပယ်ခဲ့ကြလေသော ရှေးသူဟောင်းတို့၏ သတင်းရောက်ရှိ၍ မလာခဲ့လေသလော။ သို့သွေဖည် ငြင်းပယ်ခဲ့ကြပေရာ ၎င်းတို့သည် မိမိတို့၏ အပြုအမူနှင့်စပ်လျဉ်း၍ ပြစ်ဒဏ်ကို မြည်းစမ်းခဲ့ကြရလေပြီ။ ထိုမှတစ်ပါး ('အာခိရတ်'တမလွန်ဘဝတွင်) ၎င်းတို့၌ လွန်စွာနာကျင်ဖွယ်ဖြစ်သောပြစ်ဒဏ်သည်လည်း ရှိချေဦးမည်။

ذٰلِكَ بِاَنَّهٗ كَانَتۡ تَّاۡتِیۡهِمۡ رُسُلُهُمۡ بِالۡبَیِّنٰتِ فَقَالُوۡۤا

၆။ ထိုသို့ဖြစ်ရခြင်းမှာ ၎င်းတို့ထံ ၎င်းတို့၏ ရစူလ်တမန်တော်များသည် ထင်ရှားစွာသော သက်သေသာဓကများနှင့်တကွ လာရောက်လေ့ ရှိခဲ့ကြသောအခါ

➤➤ လက်တော်တွင်း၌သာရှိ၏။ စကြာဝဠာအဝန်း၌ ချီးမွမ်းဖွယ်ရာအပေါင်းသည်လည်း ထိုအရှင်မြတ်နှင့်သာလျှင် အပ်စပ်၏။ ထိုအရှင်မြတ်သည် အရာခပ်သိမ်းကုန်တို့ကိုလည်း ပြုစွမ်းတော်မူနိုင်၏။ သို့ဖြစ်ရာ ထိုအရှင်မြတ်၏ အမိန့်တော်ကိုနာခံရာ၏၊မသွေဖည်ရာ။ ထို့ပြင်မက ထိုအရှင်မြတ်သည်ပင် အသင်လူသားတို့ကို သတ္တဝါအပေါင်းတွင် အချိုးအကျဆုံး၊ အဆင်ပြေဆုံး၊ အလှဆုံး၊ အမြင့်မြတ်ဆုံး ဖန်ဆင်းထားတော်မူ၏။

ဤသည်တို့ကို ထောက်ရှုကာ အသင်လူသားတို့သည် အရှင်မြတ်အားသာလျှင် ယုံကြည်မြတ်နိုးရှိခိုးပူဇော်ကော်ရော်ကြရပေမည်။ ယခုမူ အသင်တို့အနက်အချို့သည် သွေဖည်လျက်ရှိကြ၏။ အချို့မူ ယုံကြည်မြတ်နိုးလျက်ရှိကြ၏။ အလ္လာဟ်အရှင်မြတ်သည် (ယုံကြည်မှု၊ သွေဖည်မှုဆိုင်ရာ) အသင်တို့၏ အကျင့်အမူဟူဟူသမျှကို ကြွင်းမဲ့ဥဿုံအလုံးစုံ သိမြင်တော်မူသည်။ သို့သိမြင်တော် မူသည့်အလျောက် အသီးသီးတို့အား ထိုက်သည့်အားလျော်ညီစွာ ကျိုးပြစ်ပေးတော်မူမည်သာဖြစ်သည်။ ကြည့်-ထာနဝီ။

အလ္လာဟ်အရှင်မြတ်သည် လူသားအားလုံးတို့ကို မှန်ကန်သော သဘာဝအပေါ်၌ပင် ဖန်ဆင်းထားတော်မူခဲ့၏။ လူသားတို့၌ အကောင်းဘက်သို့လည်းကောင်း၊ အဆိုးဘက်သို့လည်းကောင်း ကြိုက်နှစ်သက်ရာဘက်သို့ သွားနိုင်ရန် စွမ်းရည်သတ္တိကိုလည်း ထည့်သွင်းပေးတော်မူခဲ့၏။

အချို့လူသားတို့သည် မှန်ကန်သော မူလသဘာဝအပေါ်၌ပင် ရပ်တည်နေခဲ့၏။ အချို့လူသားတို့မူ ပတ်ဝန်းကျင်၏ ဆွဲဆောင်ရာသို့လိုက်ပါကာ မှန်ကန်သော မူလသဘာဝမှ တိမ်းစောင်းသွားခဲ့၏။ အသို့ပင်ရှိစေ မည်သူမည်ဝါတို့သည် မိမိတို့၏စေတနာအလျောက် မူလသဘာဝအပေါ်၌ ရပ်တည်နေကြမည်၊ မည်သူမည်ဝါတို့သည် မူလသဘာဝမှ တိမ်းစောင်းသွားကြမည်ကို အလ္လာဟ်အရှင်မြတ်သည် အစကတည်းကပင် အသိဖြစ်တော်မူသည်။

သို့အသိဖြစ်တော်မူသည့်အလျောက် ထိုအရှင်မြတ်သည် လူသားအသီးသီးနှင့်ပတ်သက်၍ မည်သူမည်သို့ဖြစ်မည်၊ မည်ဝါမည်ပုံဖြစ်မည် ဟူ၍ ရေးမှတ်ထားတော်မူခဲ့၏။ သို့ရေးမှတ်ထားတော်မူခဲ့သည့် အတိုင်းပင် ဖြစ်ပျက်လာသည်ချည်းသာ ဖြစ်၏။

أَبَشَرٌ يَهْدُونَنَا فَكَفَرُوا وَتَوَلَّوا وَّاسْتَغْنَى اللَّهُ وَاللَّهُ غَنِيٌّ حَمِيدٌ ⑥

၎င်းတို့က မနုဿလူသားများသည် ကျွန်ုပ်တို့အား တရားလမ်းမှန်ကို ပြသကြမည်လောဟု ပြောဆိုခဲ့ကြကုန်၏။ ထို့နောက် ၎င်းတို့သည် သွေဖည် ငြင်းပယ်ခဲ့ကြကုန်၏။ ကျောခိုင်းသွားခဲ့ကြ၏။ *အလ္လာဟ်အရှင်မြတ်သည်လည်း ၎င်းတို့အား ဂရုစိုက်တော်မူသည် မရှိခဲ့ပေ။* ① စင်စစ်မှာကား အလ္လာဟ်အရှင်မြတ်သည် လိုလားတောင့်တမှု ကင်းမဲ့တော်မူသောအရှင်၊ ချီးမွမ်းအပ်သော ဂုဏ်တော်၊ အတိုင်းအဆမရှိ ပြည့်စုံတော်မူသောအရှင်၊ ဖြစ်တော်မူပေသတည်း။

زَعَمَ الَّذِينَ كَفَرُوا أَن لَّن يُبْعَثُوا قُلْ بَلَىٰ وَرَبِّي لَتُبْعَثُنَّ ثُمَّ لَتُنَبَّؤُنَّ بِمَا عَمِلْتُمْ وَذَٰلِكَ عَلَى اللَّهِ يَسِيرٌ ⑦

၇။ 'ကာဖိရ်' သွေဖည်ငြင်းပယ်သောသူတို့က ၎င်းတို့သည် အလျှင်း ရှင်ပြန်ထကြရမည် မဟုတ်ဟူ၍ ထင်မြင် ပြောဆိုခဲ့ကြကုန်၏။ (အို–နဗီတမန်တော်) အသင်သည် ပြောကြားပါလေ။ (အချင်းတို့) အဘယ်ကြောင့် မဟုတ်သနည်း။ ငါ့အား ဖန်ဆင်း မွေးမြူတော်မူသောအရှင်မြတ်အား တိုင်တည်၍(ပြောအံ့)၊ ဧကန်မလွဲ အသင်တို့သည် ရှင်ပြန်ထကြရပေမည်။ ထို့နောက် ဧကန်မုချ အသင်တို့သည် မိမိတို့ကျင့်မူခဲ့သမျှတို့ကို သိစေခြင်းခံကြရမည်။ စင်စစ်သော်ကား *ဤသည်အလ္လာဟ်အရှင်မြတ်၌လွန်စွာလွယ်ကူလှ၏။* ②

---

① ယင်းသို့ကာဖိရ်များ ဤပစ္စက္ခတွင်လည်းကောင်း၊နောင်တမလွန်ဘဝတွင်လည်းကောင်း ပြစ်ဒဏ်ခံကြရခြင်းမှာ မသိနားမလည်၍ မေ့မှားသွေဖည်ခဲ့ကြခြင်းမဟုတ်၊ ၎င်းတို့ထံ အလ္လာဟ်အရှင်မြတ်၏ တမန်တော်များ အသီးသီး ရောက်ရှိလာခဲ့ကြ၏။ ထင်ရှားသော သက်သေလက္ခဏာတော်များကိုလည်း ပြသခဲ့ကြ၏။ မှားမှန်၊ ဆိုးကောင်း၊ ကျိုးကြောင်းပြ၍လည်း သွန်သင်ဆုံးမခဲ့ကြ၏။ တရားဟောညွှန်ပြခဲ့ကြ၏။

သို့ပါသော်လည်း ကာဖိရ်များက ဤလူသား (တမန်တော်များ)သည် ငါတို့အား အသို့လျှင် တရားပြနိုင်ကြအံ့နည်း။ လူသားသည် တမန်တော်မဖြစ်နိုင်ဟုဆိုကာ သွေဖည်ခဲ့ကြ၏၊ကျောခိုင်းသွားခဲ့ကြ၏။ ယင်းသို့သိပါလျက်နှင့် သွေဖည်သွားခဲ့ကြသည့်အတွက်၊ ကျောခိုင်းသွားခဲ့ကြသည့်အတွက် အလ္လာဟ်အရှင်မြတ်ကလည်း အနည်းငယ်စိုးစဉ်းမျှပင် ဂရုစိုက်တော်မမူခဲ့ပေ။ ကရုဏာတော်ပွားတော်မူပါလျက် ကရုဏာတော်ကိုပင် ကျောခိုင်းသွားခဲ့ကြသည်ဖြစ်ရာ၊ ကရုဏာတော်နှင့် မထိုက်တန်သောသူများအား ၎င်းတို့နှင့်ထိုက်တန်သော အကျိုးကိုပင် ပေးတော်မူခဲ့လေသည်။ ဤသည် မည်သူမပြုမိမိမှုပင်။

٨ فَآمِنُوا بِاللَّهِ وَرَسُولِهِ وَالنُّورِ الَّذِي أَنزَلْنَا ۚ وَاللَّهُ بِمَا تَعْمَلُونَ خَبِيرٌ ﴿٨﴾

၈။ သို့ဖြစ်ပေရာ အသင်တို့သည် အလ္လာဟ်အရှင်မြတ်အားလည်းကောင်း၊ ထိုအရှင်မြတ်၏ ရစူလ်တမန်တော်မြတ်အားလည်းကောင်း၊ ငါအရှင်မြတ်ချပေးသနားတော်မူခဲ့သော အလင်းရောင်အားလည်းကောင်း၊ သက်ဝင် ယုံကြည်ကြလေကုန်။ အမှန်သော်ကား အလ္လာဟ်အရှင်မြတ်သည် အသင်တို့ ကျင့်မူသမျှတို့ကို အကြွင်းမဲ့ ကြားသိတော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူ၏။

يَوْمَ يَجْمَعُكُمْ لِيَوْمِ الْجَمْعِ ۖ ذَٰلِكَ يَوْمُ التَّغَابُنِ ۗ وَمَن يُؤْمِن بِاللَّهِ وَيَعْمَلْ صَالِحًا يُكَفِّرْ عَنْهُ سَيِّئَاتِهِ وَيُدْخِلْهُ جَنَّاتٍ تَجْرِي مِن تَحْتِهَا الْأَنْهَارُ خَالِدِينَ فِيهَا أَبَدًا ۚ ذَٰلِكَ الْفَوْزُ الْعَظِيمُ ﴿٩﴾

၉။ အကြင်နေ့ကို (သတိရကြလေကုန်)။ ထိုအရှင်မြတ်သည် အသင်တို့အား စုရုံးရာနေ့တွင် စုရုံးတော်မူပေမည်။ ထိုနေ့ကား အရှုံးအနိုင်ကို အမှန်အတိုင်း သိရှိရမည့်နေ့ပင်။

စင်စစ်မှာမူကား မည်သူမဆို အလ္လာဟ်အရှင်မြတ်အား သက်ဝင်ယုံကြည်၍ ကောင်းမှုကို ကျင့်မူဆောက်တည်ပါလျှင် ထိုအရှင်မြတ်သည် ၎င်း၏ အကုသိုလ်ဒုစရိုက်များကို ၎င်းမှ ပပျောက်စေတော်မူမည့်ပြင် ၎င်းအား အကြင်ဥယျာဉ်များသို့လည်း အမြဲထာဝစဉ် နေထိုင်သူများအဖြစ် ဝင်ရောက်စေတော်မူမည်ဖြစ်၏။ ယင်းဥယျာဉ်များ၏ အောက်မှ ချောင်းများသည် စီးတွေလျက် ရှိကြပေမည်။ ထိုသည် ကြီးကျယ်လှစွာသော အောင်မြင်မှုပင်။

(၂) ကာဖိရ်များသည် အလ္လာဟ်အရှင်မြတ်က စေလွှတ်တော်မူသော တမန်တော်များအား သွေဖည်ငြင်းဆန်လက်မခံခဲ့ကြသကဲ့သို့ သေပြီးနောက် ပြန်လည်ရှင်ထကြရမည်ကိုလည်း သွေဖည်ငြင်းဆန်လက်မခံခဲ့ကြပေ။ ယင်းကာဖိရ်များ လက်မခံကြသော်လည်း တစ်ရက် 'ကိယာမတ်' အမှန်ဖြစ်မည်၊ အားလုံး ရှင်ပြန်ထကြရမည်။ မိမိတို့ ကျင့်မူဆည်းပူးခဲ့ကြသည်များနှင့်စပ်လျဉ်း၍ စစ်ဆေးမေးမြန်းခြင်းခံကြရပေမည်။ ဤသည် အလ္လာဟ်အရှင်မြတ်အဖို့ အသို့မျှ အခက်အခဲမရှိ။

وَالَّذِيْنَ كَفَرُوْا وَكَذَّبُوْا بِاٰيٰتِنَآ اُولٰٓئِكَ اَصْحٰبُ النَّارِ خٰلِدِيْنَ فِيْهَا ؕ وَبِئْسَ الْمَصِيْرُ ﴿١٠﴾

၁၀။ သို့တစေလည်း အကြင်သူသည် သွေဖည်ငြင်းပယ်ခဲ့ကြကုန်၏။ ၎င်းပြင် ငါအရှင်မြတ်၏ အာယတ်တော်များကို မဟုတ်မမှန်ဟူ၍ စွပ်စွဲငြင်းပယ်ခဲ့ကြကုန်၏။ ထိုသူတို့ကား ငရဲမီး၌ အမြဲထာဝစဉ် နေထိုင်ကြရအံ့သော သူများပင် ဖြစ်ကြကုန်၏။ စင်စစ်သော်ကား ယင်းငရဲမီးသည် လွန်စွာယုတ်ညံ့လှစွာသော စခန်းပင် ဖြစ်ပေသတည်း။ [၁]

مَآ اَصَابَ مِنْ مُّصِيْبَةٍ اِلَّا بِاِذْنِ اللّٰهِ ؕ وَمَنْ يُّؤْمِنْ بِاللّٰهِ يَهْدِ قَلْبَهٗ ؕ وَاللّٰهُ بِكُلِّ شَيْءٍ عَلِيْمٌ ﴿١١﴾

၁၁။ *ဘေးဒုက္ခဟူသမျှတို့သည် အလ္လာဟ်အရှင်မြတ်၏အမိန့်တော်နှင့်သာ သက်ရောက်၏။* [၂] ထို့ပြင် မည်သူမဆို အလ္လာဟ်အရှင်မြတ်အား သက်ဝင်ယုံကြည်ပါလျှင် ထိုအလ္လာဟ်အရှင်မြတ်သည် ၎င်း၏စိတ်နှလုံးကို တရားလမ်းမှန် ပြသတော်မူ၏။ အမှန်စင်စစ်သော်ကား အလ္လာဟ်အရှင်မြတ်သည် အရာခပ်သိမ်းတို့ကို အကြွင်းမဲ့ သိရှိတော်မူသောအရှင်မြတ်ပင် ဖြစ်တော်မူ၏။ [၃]

---

(၁) **အရှုံးအမြတ်ပေါ်မည့်နေ့။**

ကိယာမတ်နေ့တွင် အလ္လာဟ်အရှင်မြတ်သည် အားလုံးကိုပြန်လည်စုရုံးစေတော်မူမည်ဖြစ်သည်။ ထိုနေ့တွင် လက်တွေ့အရှုံးအမြတ်လည်း ပေါ်မည်။ (ဂျဟန္နမ်) ငရဲသို့လားကြရသူများသည် ရှုံးကြမည်၊ (ဂျန္နတ်) အမတ သုခဘုံသို့ လားကြရသူများသည် မြတ်ကြမည်။

ရှုံးသူများ၏ အရှုံးကား ၎င်းတို့သည် အလ္လာဟ်အရှင်မြတ်က မိမိတို့အား ချီးမြှင့်အပ်နှင်း ထားတော်မူသော စွမ်းရည်သတ္တိများကို အလွဲသုံးစားပြုခဲ့ကြသည့်အတွက် မတည်အရင်းအနှီးကိုပင် ဆုံးရှုံးကြရခြင်းကြောင့်ပင်။

အမြတ်အစွန်းရရှိသူများ၏ အမြတ်ကား ၎င်းတို့သည် အလ္လာဟ်အရှင်မြတ်က မိမိတို့အား ချီးမြှင့်အပ်နှင်းထားတော်မူသည့် စွမ်းရည်သတ္တိများကို ထိုအရှင်မြတ်လမ်းတော်တွင် တရားသဖြင့် အသုံးပြုခဲ့ကြသည့်အတွက် ချီးမြှင့်သင့် ချီးမြှင့်အပ်သည်ထက် အတိုင်းမသိ ကြီးမားများပြားလှသော ဆုတော်လာဘ်တော်များကို ချီးမြှင့်တော်မူခြင်း ခံကြရခြင်းကြောင့်ပင်။ ရှေ့အာယတ်တော်တွင် ဤသည့်အရှုံးနှင့်အမြတ်ကိုပင် ရှင်းလင်း မိန့်ဆိုထားတော်မူသည်။

(၂) ဆိုလိုသည်ကား ဤလောကဓာတ်ကြီးတွင် ဖြစ်ပျက်နေသော အဖြစ်အပျက် ဒုက္ခ၊ သုခကိစ္စအဝဝတို့သည် အကြောင်းမဲ့၊ အကျိုးမဲ့ ပရမ်းပတာဖြစ် နေသည်မဟုတ်။ အလ္လာဟ်အရှင်မြတ်၏ အသိ၊ အလိုတော်၊ စီမံဖန်တီးမှုဖြင့်သာလျှင် ဖြစ်ပျက်နေခြင်းပင်ဖြစ်သည်။ ထိုအရှင်မြတ်၏ အလိုတော်သာမရှိပါက မည်သည့်ဒုက္ခ၊ မည်သည့်သုခမျှ သက်ရောက်မည်မဟုတ်ပေ။ 

وَأَطِيعُوا اللَّهَ وَأَطِيعُوا الرَّسُولَ ۚ فَإِن تَوَلَّيْتُمْ فَإِنَّمَا عَلَىٰ رَسُولِنَا الْبَلَاغُ الْمُبِينُ ﴿١٢﴾

၁၂။ ၎င်းပြင် အသင်တို့သည် အလ္လာဟ်အရှင်မြတ်၏အမိန့်တော်ကို လိုက်နာကြလေကုန်။ ၎င်းပြင် အသင်တို့သည် ရစူလ်တမန်တော်မြတ်၏ အမိန့်ကိုလည်း လိုက်နာကြလေကုန်။ သို့ရာတွင် အကယ်၍ အသင်တို့သည် (လိုက်နာခြင်းမပြုဘဲ) မျက်နှာလွှဲသွားလျှင် ငါအရှင်မြတ်၏ရစူလ်တမန်တော်မြတ်အပေါ်ဝယ် (အမိန့်တော်များကို) ရှင်းလင်းစွာ ပို့ဆောင်ရန်သာလျှင် တာဝန်ရှိ၏။

اللَّهُ لَا إِلَٰهَ إِلَّا هُوَ ۚ وَعَلَى اللَّهِ فَلْيَتَوَكَّلِ الْمُؤْمِنُونَ ﴿١٣﴾

၁၃။ အလ္လာဟ်အရှင်မြတ်သာလျှင် (ဆည်းကပ်ကိုးကွယ်ရာအရှင် ဖြစ်တော်မူ၏။) ထိုအရှင်မြတ်မှတစ်ပါး ဆည်းကပ်ကိုးကွယ်ရာ အရှင်ဟူ၍ အလျှင်းမရှိပြီ။ သို့ဖြစ်ပေရာ 'မုအ်မင်န်' သက်ဝင်ယုံကြည်သူတို့မှာမူကား အလ္လာဟ်အရှင်မြတ်၏အပေါ်၌သာလျှင် ယုံပုံလွှဲအပ် အားထားရာကုန်သတည်း။

---

➢➢ သို့ဖြစ်ရာ ဤသည့်သဘောတရားကို ယုံကြည်လက်ခံထားသော မုအ်မင်န်များသည် မိမိတို့၌ ဒုက္ခတစ်စုံတစ်ရာ သက်ရောက်သည့်အတွက် စိတ်မပျက်ရာ၊ စိတ်ဓာတ်မကျရာ၊ အလ္လာဟ်အရှင်မြတ် စီရင်တော်မူသမျှကို အခါခပ်သိမ်း ကျေနပ်နှစ်သက်နေကြရမည်သာ။

③ ဆိုလိုသည်ကား အကြင်သူသည် အလ္လာဟ်အရှင်မြတ်အား ယုံကြည်မြတ်နိုးအံ့၊ မိမိ၌ ဒုက္ခတစ်စုံတစ်ရာ ရောက်ရှိလာပါက ဤသည် အလ္လာဟ်အရှင်မြတ်၏ စီမံဖန်တီးမှု၊ စီရင်ဆုံးဖြတ်မှု အရသာဖြစ်သည်ဟူ၍ နားလည်အံ့။ လောကီရေးရာများတွင် ဆုံးရှုံးပျက်စီးခဲ့ရသည်များအစား ယင်းထက် ပိုမိုကောင်းမြတ်သော အရာများကို ပေးသနားတော်မူအံ့။ ကြည့်-အိဗ်နုကဆီရ်။

တမန်တော်မြတ်က မိန့်ကြားတော်မူခဲ့သည်မှာ မုအ်မင်န်၏အဖြစ်ကား အံ့ဖွယ်ပင်။ အလ္လာဟ်အရှင်မြတ် စီရင်တော်မူသမျှ ထိုမုအ်မင်န်အဖို့ အကောင်းချည်းပင်။ အကြောင်းသော်ကား ထိုမုအ်မင်န်သည် မိမိ၌ဒုက္ခဖြစ်သော် သည်းခံ၏၊ ဤသည်လည်း သူ၏အဖို့အကောင်းပင်။ တဖန် ထိုမုအ်မင်န်သည် မိမိ၌သုခဖြစ်သော် ကျေးဇူးတင်၏၊ ဤသည်လည်း သူ၏အဖို့အကောင်းပင်။ ဤသည့် အခွင့်အလမ်းသာမူကား မုအ်မင်န်များ၌သာ ရှိပေသည်။ ဤဩဝါဒတော်သည် ဗုခါရီနှင့် မွတ်စ်လင်မ်ကျမ်းကြီး နှစ်စောင်စလုံးတွင် လာရှိပေသည်။ အိဗ်နုကဆီရ်။

يَٰٓأَيُّهَا ٱلَّذِينَ ءَامَنُوٓاْ إِنَّ مِنْ أَزْوَٰجِكُمْ وَأَوْلَٰدِكُمْ عَدُوًّا لَّكُمْ فَٱحْذَرُوهُمْ ۚ وَإِن تَعْفُواْ وَتَصْفَحُواْ وَتَغْفِرُواْ فَإِنَّ ٱللَّهَ غَفُورٌ رَّحِيمٌ ﴿١٤﴾

၁၄။ အို-'မုအ်မင်န်' သက်ဝင်ယုံကြည်သူအပေါင်းတို့၊ အသင်တို့၏ ဇနီးမိန်းမတို့တွင်လည်းကောင်း၊ အသင်တို့၏ သားသမီးတို့တွင်လည်းကောင်း၊ အသင်*တို့၏ရန်သူများ ရှိနေကြပေသည်။* [၁] သို့ဖြစ်ပေရာ အသင်တို့သည် ၎င်းတို့ကို သတိပြုကြလေကုန်။ ထို့ပြင် အကယ်၍ အသင်တို့သည် (ထိုသူတို့အား) ခွင့်လွှတ်ကြပါလျှင်လည်းကောင်း၊ လျစ်လျူရှုကြပါလျှင်လည်းကောင်း၊ လွတ်ငြိမ်းချမ်းသာခွင့် ပေးကြပါလျှင်လည်းကောင်း၊ ဧကန်မလွဲ အလ္လာဟ်အရှင်မြတ်သည် အလွန်တရာ ခွင့်လွှတ်ချမ်းသာပေးတော်မူသော၊ အလွန်တရာကြင်နာသနားတော်မူသောအရှင် ဖြစ်တော်မူ၏။ [၂]

---

**(၁) အချို့သားသမီးနှင့် ဇနီးသည် ရန်သူဖြစ်တတ်၏။**

များသောအားဖြင့် အချို့ပုဂ္ဂိုလ်များသည် သားသမီးဇနီးသည်တို့၏ ခင်တွယ်မှု၊ သံယောဇဉ်ဝဲသြဃတွင် တဝဲလည်လည်ဖြစ်ကာ အလ္လာဟ်အရှင်မြတ်အား မေ့နေတတ်ကြ၏၊ထိုအရှင်မြတ်၏ အမိန့်တော်များကို နာယူကျင့်မှုရာတွင် ပေါ့လျော့နေတတ်ကြ၏။

သားသမီးဇနီးသည်များ၏ သံယောဇဉ်ကြောင့် များစွာသော ကောင်းမှုကိစ္စများကို လျစ်လျူရှုထားကြသည်သာမက၊ များစွာသောမကောင်းမှုများကိုပင် ကျူးလွန်တတ်ကြ၏။ သားသမီးဇနီးသည်တို့၏ လိုလားချက်များကို ဖြည့်စွမ်းနိုင်ရန်နှင့် ၎င်းတို့၌ ကျေနပ်နှစ်သက်မှုရှိစေရန်အတွက် နေ့မအား ညမအား ကြိုးပမ်းနေကြတတ်၏။ ဤသည့် ဝဲသြဃတွင် တဝဲလည်လည်ဖြစ်ကာ နောင်တမလွန်အရေးကို အမေ့ကြီး မေ့နေတတ်ကြ၏။

သားသမီးဇနီးများ၏ သံယောဇဉ်သည် အလ္လာဟ်အရှင်မြတ်အား မေ့ရန်၊ နောင်တမလွန်အရေးကိုမေ့ရန် ကောင်းမှုများကို မပြုလုပ်နိုင်သည်သာမက၊ မကောင်းမှုများကို ပြုလုပ်ရန်ပင် အကြောင်း ကြီးဖြစ်လာပါက၊ ယင်းသို့သော သားသမီးဇနီးသည်များသည် မိမိအဖို့ အဆွေခင်ပွန်း မဟုတ်သည်သာမက အလွန်ဆိုးရွားသော ရန်သူများပင်ဖြစ်နေကြပြီ မဟုတ်အံ့လော။ သားသမီးဇနီးသည်တို့သည် ယင်းသို့ မိမိအဖို့ ရန်သူများ ဖြစ်နေကြသည်ကို သက်ဆိုင်ရာပုဂ္ဂိုလ်တို့၌ တစ်ခါတစ်ရံ အတွေးပင်မပေါ်ပေါက်တတ်ပေ။ ထို့အတွက်ကြောင့် အလ္လာဟ်အရှင်မြတ်က ယင်းသို့သော သားသမီးဇနီးတို့နှင့် ပတ်သက်၍ သတိပေးထားတော်မူခြင်းဖြစ်သည်။ ကုရ်အာန် (၆၃း၉)တွင်လည်း ဤအတိုင်း သတိပေးထားတော်မူသည်။

ဤတွင် သတိပြုအပ်သည်မှာ လူ့လောကရှိ သားသမီးဇနီးသည် အားလုံးတို့သည် တစ်မျိုးတစ်စားတည်း မဟုတ်ကြပေ။ သားဆိုး၊ သမီးဆိုး၊ ဇနီးဆိုးများရှိကြသကဲ့သို့ သားကောင်း၊ သမီးကောင်း၊ ဇနီးကောင်းများလည်း အမြောက်အမြားရှိကြပေသည်။ များစွာသောဇနီးများသည် ဇနီးကောင်းပီပီ မိမိတို့ကိုယ်တိုင် သာသနာရေးရာများကို ထိန်းသိမ်းနိုင်ကြသည်သာမက မိမိတို့၏ ခင်ပွန်းသည်များ၏ သာသနာရေးရာများကိုပင် ထိန်းသိမ်းပေးနိုင်ကြသည်။



إِنَّمَآ أَمْوَٰلُكُمْ وَأَوْلَٰدُكُمْ فِتْنَةٌ ۚ وَٱللَّهُ عِندَهُۥٓ أَجْرٌ عَظِيمٌ ⑮

၁၅။ အသင်တို့၏ ဥစ္စာပစ္စည်းများသည်လည်းကောင်း၊ အသင်တို့၏ သားသမီးများသည်လည်းကောင်း၊ စမ်းသပ်မှုသာလျှင် ဖြစ်ကုန်၏။ ၎င်းပြင် အလ္လာဟ်အရှင်မြတ်အထံတော်၌ ကြီးကျယ်လှစွာသော အကျိုးကျေးဇူးသည် ရှိပေသည်။

فَٱتَّقُوا۟ ٱللَّهَ مَا ٱسْتَطَعْتُمْ وَٱسْمَعُوا۟ وَأَطِيعُوا۟ وَأَنفِقُوا۟ خَيْرًا لِّأَنفُسِكُمْ ۗ وَمَن يُوقَ شُحَّ نَفْسِهِۦ فَأُو۟لَٰٓئِكَ هُمُ ٱلْمُفْلِحُونَ ⑯

၁၆။ သို့ဖြစ်ပေရာ အသင်တို့သည် မိမိတို့ တတ်စွမ်းနိုင်သမျှ အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ကြလေကုန်။ ထို့ပြင် အသင်တို့သည် နာခံကြလေကုန်။ ၎င်းပြင် အသင်တို့သည် လိုက်နာကြလေကုန်။ ထိုမှတစ်ပါး အသင်တို့သည် မိမိတို့ကိုယ်တိုင် ကောင်းစားရန် သုံးစွဲ(လှူဒါန်း)ကြလေကုန်။ စင်စစ်သော်ကား မည်သူမဆို မိမိကိုယ်တိုင်၏ လောဘရမ္မက်ကြီးမှုမှ လွတ်ကင်းပါမူ ယင်းကဲ့သို့သောသူတို့သည်သာလျှင် အောင်မြင်သူများဖြစ်ကုန်၏။

➤➤ ထို့အတူများစွာသော သားသမီးများသည် မိဘများအား အနှောင့်အယှက် တစ်စုံတစ်ရာ မပေးကြသည်သာမက အကျိုးအမျိုးမျိုးကိုပင် ပြုလျက်ရှိကြပေသည်။ (အလ္လာဟ်အရှင်မြတ်သည် ကျွန်တော်မျိုးတို့အား သားကောင်း၊ သမီးကောင်းနှင့် ဇနီးကောင်းများကို ပေးသနားတော်မူပါစေသတည်း။)

(၂) ဆိုလိုသည်ကား အကယ်၍သာ သားသမီးဇနီးသည်များသည် မိမိတို့အား ရန်မူကြသည်ရှိသော် လောကီရေး၊ လောကုတ္တရာရေးများတွင် အန္တရာယ်ပြုကြသည်ရှိသော်၊ ၎င်းတို့အား တုံ့ပြန်လက်စားမချေကြရာ။ ၎င်းတို့အား လျော်ကန်သင့်မြတ်သော အရေးယူမှုထက် ပိုမိုလွန်ကဲ၍ မပြင်းထန်ကြရာ၊ သို့မဟုတ်ပါမူ စီမံကွပ်ကဲအုပ်ချုပ်မှုသည် ပျက်စီးသွားပေမည်။

တရားတော်က ခွင့်ပြုသည်နှင့်အမျှ အခြေအနေအရ လိုက်လျောနိုင်သည်နှင့်အမျှ ၎င်းတို့၏ မှားယွင်းမှု၊ မိုက်မဲမှုများကို ခွင့်လွှတ်ကြရမည်၊လျစ်လျူပြုကြရမည်။

ယင်းသို့ စိတ်နေသဘောထားကြီးစွာဖြင့် သားသမီးဇနီးတို့အား ခွင့်လွှတ်ပါက၊လျစ်လျူပြုပါက အလ္လာဟ်အရှင်မြတ်သည် မိမိတို့အား သနားကြင်နာတော်မူပေမည်။ မိမိ၏အမှားများကိုလည်း ခွင့်လွှတ်တော်မူပေမည်။

အမှန်မှာသားသမီးဇနီးတို့သည် အလ္လာဟ်အရှင်မြတ် ချီးမြှင့်ထားတော်မူသော အဖိုးမဖြတ်နိုင်သည့် ရတနာများပင်ဖြစ်ကြပေသည်။ ၎င်းတို့အား အစ္စလာမ်နှင့်အညီ သွန်သင်ဆုံးမ၍ ပြုစုပျိုးထောင် ပေးပါက နှစ်ဘဝစလုံးပင် သုခချမ်းသာအဖြာဖြာကို ဆောင်ကြဉ်းပေးနိုင်ကြပေသည်။ သို့မဟုတ်ပါမူ ဒုက္ခအမျိုးမျိုး ပေးနိုင်ပေသည်။ ကြည့်-မာဂျိဒီ။

إِن تُقْرِضُوا اللَّهَ قَرْضًا حَسَنًا يُضَاعِفْهُ لَكُمْ وَيَغْفِرْ لَكُمْ ۚ وَاللَّهُ شَكُورٌ حَلِيمٌ ﴿١٧﴾

၁၇။ အကယ်၍ အသင်တို့သည် အလ္လာဟ်အရှင်မြတ်အား ကောင်းမြတ်စွာ ချေးငှားကြသည်ရှိသော် ထို အရှင်မြတ်သည် အသင်တို့အဖို့ ယင်းချေးငှားခြင်းကို ဆထက် တိုးပွားတော်မူပေမည်။ ထိုမှတစ်ပါး ထိုအရှင်မြတ်သည် အသင်တို့အား ခွင့်လွှတ်ချမ်းသာပေးတော်မူပေမည်။ စင်စစ်မှာမူကား အလ္လာဟ်အရှင်မြတ်သည် အလွန်တရာ ရက်ရောစွာ ကျေးဇူးတုံ့ပြန်တော်မူသောအရှင်၊ အလွန်တရာ သည်းခံခြင်းတရားနှင့် ပြည့်စုံတော်မူသောအရှင်၊ ဖြစ်တော်မူ၏။

عَالِمُ الْغَيْبِ وَالشَّهَادَةِ الْعَزِيزُ الْحَكِيمُ ﴿١٨﴾

၁၈။ လျှို့ဝှက်စွာ ရှိသည်တို့ကိုလည်းကောင်း၊ ထင်ရှားစွာ ရှိသည်တို့ကိုလည်းကောင်း၊ သိရှိတော်မူသောအရှင်၊ အလွန်တရာ ခန့်ညားတော်မူသောအရှင်၊ လွန်စွာ နက်နဲသိမ်မွေ့သော ဆင်ခြင်တုံတရားနှင့် ပြည့်စုံတော်မူသောအရှင်၊ ဖြစ်တော်မူပေသတည်း။

## လင်ခန်းမယားခန်းဖြတ်ခန်းကဏ္ဍ

سُوْرَةُ الطَّلَاقِ

ဤကဏ္ဍသည် 'တွလာက်' လင်ခန်းမယားခန်းဖြတ်ခြင်း ကဏ္ဍမည်၏။ မဒီနာမြို့တော်တွင် ကျရောက်ခဲ့၏။ ဤကဏ္ဍတွင် အာယတ်တော်(၁၂)ပါးနှင့် ရုကူအ်အပိုဒ် (၂)ပိုဒ် အသီးသီးပါရှိ၏။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ ○

မပြတ်မစဲ သနားညှာတာတော်မူသော၊ မဟာကရုဏာတော်ရှင် ဖြစ်တော်မူသော အလ္လာဟ်အရှင်မြတ်၏ နာမံတော်ဖြင့် အစပြုပါ၏။

يٰٓاَيُّهَا النَّبِيُّ اِذَا طَلَّقْتُمُ النِّسَآءَ فَطَلِّقُوْهُنَّ لِعِدَّتِهِنَّ وَاَحْصُوا الْعِدَّةَ ۚ وَاتَّقُوا اللّٰهَ رَبَّكُمْ ۚ لَا تُخْرِجُوْهُنَّ مِنْۢ بُيُوْتِهِنَّ وَلَا يَخْرُجْنَ اِلَّآ اَنْ يَّاْتِيْنَ بِفَاحِشَةٍ مُّبَيِّنَةٍ ۗ وَتِلْكَ حُدُوْدُ

၁။ အို–နဗီတမန်တော်၊ (အသင်သည် လူသားတို့အား ပြောကြားလိုက်ပါလေ)။ အသင်တို့သည် ဇနီးမိန်းမများအား တွလာက်ပေး ကွာရှင်း(ရန် ရည်ရွယ်)သောအခါ ၎င်းတို့၏'အစ်ဒ္ဒသ်'ရက်များ (စ၍ရေတွက်နိုင်သော) အချိန်ကာလ၌ 'တွလာက်'ပေး ကွာရှင်းကြလေကုန်။ [၁] ၎င်းပြင် အသင်တို့သည် 'အစ်ဒ္ဒသ်' ရက်များကို ရေတွက်ကြလေကုန်။ [၂] ထိုမှတပါး အသင်တို့သည် မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသော အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ကြလေကုန်။

---

(၁) အကြောင်းတစ်ခုခုကြောင့် မလွဲမရှောင်သာ၍ မိမိ၏ဇနီးအား ကွာရှင်းရန် ရည်ရွယ်သောအခါ 'အစ်ဒ္ဒတ်' ရက်တွင် ကွာရှင်းသင့်ပေသည်။ 'အစ်ဒ္ဒတ်' ရက်သည် 'ဟိုက်ဇ္ဇ်' ရာသီသွေး သုံးကြိမ် ဆင်းခြင်းပင်ဖြစ်သည်။

ဤအကြောင်း ကုရ်အာန် (၂း၂၂၈)တွင် ပါရှိခဲ့ချေပြီ။

ဆိုလိုသည်ကား ရာသီသွေးဆင်းနေချိန်တွင် ကွာရှင်းခြင်းမပြုရ၊ သန့်ရှင်းနေသောအချိန်တွင် ကွာရှင်းရာ၏။ ထို့ပြင်တစ်ဝ တမန်တော်မြတ်၏ သြဝါဒတော်အရ အဆိုပါ သန့်ရှင်းနေသည့်အချိန်တွင် မေထုန်သံဝါသ မပြုမိရ။

(၂) မလွဲမရှောင်သာ၍ မိမိ၏ဇနီးအား ကွာရှင်းပါက သို့ကွာရှင်းပြီးနောက် ယောကျ်ား၊ မိန်းမနှစ်ဦးစလုံးတို့သည် 'အစ်ဒ္ဒတ်' ရက်ကို ကောင်းစွာ ရေတွက်ထားကြရမည်။ သို့ကောင်းစွာ ရေတွက် မထားကြပါက ပြဿနာပေါ်နိုင်သည်။ ထို့အတွက်ကြောင့်ပင် အထက်ပါ အာယတ်တော်တွင် 'အစ်ဒ္ဒတ်'ရက် ရေတွက်ရာတွင် အပိုအလို မဖြစ်စေသည့် အချိန်အခါမျိုး၌ ကွာရှင်းရန် ညွှန်ကြားထားတော်မူခြင်းဖြစ်သည်။

اللهِ وَمَنْ يَّتَعَدَّ حُدُوْدَ اللهِ فَقَدْ ظَلَمَ نَفْسَهٗ لَا تَدْرِيْ لَعَلَّ اللهَ يُحْدِثُ بَعْدَ ذٰلِكَ اَمْرًا ①

ထင်ရှားစွာသော စက်ဆုပ်ရွံ့ရှာမှု တစ်စုံတစ်ရာကို ယင်းဇနီးမိန်းမများ ကျူးလွန်ကြသည်မှတစ်ပါး အသင်တို့သည် ၎င်းတို့အား ၎င်းတို့၏ နေအိမ်များမှ ထွက်စေခြင်းကို မပြုကြကုန်လင့်။ ၎င်းတို့ ကိုယ်တိုင်လည်း (နေအိမ်များမှ) မထွက်ကြရပေ။ ၁

စင်စစ်သော်ကား ထိုသည် အလ္လာဟ်အရှင်မြတ် (သတ်မှတ်ပြဋ္ဌာန်းတော်မူသော) စည်းကမ်းချက်များပင်၊ မည်သူမဆို အလ္လာဟ်အရှင်မြတ်၏ စည်းကမ်းချက်များကို ကျူးလွန်ဖောက်ဖျက်မူ ဧကန်မလွဲ ထိုသူသည် မိမိကိုယ်ကို နှိပ်စက်ခဲ့ချေပြီ။ ထို့နောက် အလ္လာဟ်အရှင်မြတ်သည် အကြောင်းကိစ္စ တစ်စုံတစ်ရာကို အသစ် ဖန်တီး၍ပေးတော်မူမည် ဖြစ်တန်ရာသည်ကို အသင် မသိပြီတကား။ ၂

(၁) မလွဲမရှောင်သာ၍ ကွာရှင်းရာတွင် အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ရိုသေခန့်ညား၍ သက်ဆိုင်ရာအမိန့်ပညတ်များကို အတိအကျ လိုက်နာကြရပေမည်။

ဥပမာ–ရာသီသွေးဆင်းနေချိန်တွင် မကွာရှင်းရ၊ (တွလာက်) ကွာရှင်းမှုသုံးခုကိုလည်း တစ်ကြိမ်တည်း တစ်ခါတည်း မပြုရ၊ ကွာရှင်းထားသော အမျိုးသမီးအား ၎င်း၏သက်ဆိုင်ရာနေအိမ်မှလည်း (အကြောင်းမဲ့) နှင်မထုတ်ရ။ ထိုနည်းအတူ ကွာရှင်းခြင်းခံရသော အမျိုးသမီးများသည် မိမိတို့နေထိုင်ရာ သက်ဆိုင်ရာနေအိမ်များမှ မိမိတို့စိတ်စေတနာအလျောက်လည်း ထွက်ခွာမသွားကြရ။

(ဤစွတ်က်နာ) နေထိုင်ခွင့်သည် လူ့အခွင့်အရေးသာမဟုတ်၊ လူ့အခွင့်အရေးဖြစ်ပါမူ လူသည် မိမိ၏အခွင့်အရေးကို စွန့်လွှတ်နိုင်သည်။ ယခုမူ ဤနေထိုင်ခွင့် အခွင့်အရေးသည် ရှရီအတ် တရားတော်၏ အခွင့်အရေးဖြစ်သည်။ စွန့်လွှတ်ပိုင်ခွင့်မရှိ၊ စွန့်လွှတ်သော်လည်း ပျက်ပြယ်သွားမည်မဟုတ်။

သို့ရာတွင် အကယ်၍ ကွာရှင်းခြင်းခံရသော အမျိုးသမီးတစ်ဦးသည် စက်ဆုပ်ရွံ့ရှာဖွယ်အမှုကို အထင်အရှားပြုမူကျင့်ကြံသော် ဥပမာ–ကာမေသုမိစ္ဆာစာရကံ ကျူးလွန်သော်၊ သို့မဟုတ် ခိုးဝှက်သော်၊ သို့တည်းမဟုတ် အချို့အာလင်မ်များ၏ အဆိုအရ အချိန်တိုင်းတွင် ပြူစုစောင်းမြောင်း ရေရွတ်ပြောဆိုသော်၊ စကားများရန်တွေ့နေသည်ရှိသော်၊ နှုတ်သံညည်းညူဒေါသမူဖြင့် အငြူအစူပြုမူနေသော် ယင်းသို့သော အမျိုးသမီးများကိုမူ နေအိမ်မှပင်လျှင် နှင်ထုတ်ပိုင်သည်။

အကယ်၍ ကွာရှင်းခြင်းခံရသော အမျိုးသမီးတစ်ဦးသည် မိမိနေအိမ်မှအကြောင်းမဲ့ ထွက်ခွာသွားပါမူ ဤသည် ၎င်း၏အရက်ကင်းမဲ့သော အပြုအမူသာလျှင်ဖြစ်ပေမည်။

فَإِذَا بَلَغْنَ أَجَلَهُنَّ فَأَمْسِكُوهُنَّ بِمَعْرُوفٍ أَوْ فَارِقُوهُنَّ بِمَعْرُوفٍ وَأَشْهِدُوا ذَوَيْ عَدْلٍ مِّنكُمْ وَأَقِيمُوا الشَّهَادَةَ لِلَّهِ ذَٰلِكُمْ يُوعَظُ بِهِ مَن كَانَ يُؤْمِنُ بِاللَّهِ وَالْيَوْمِ الْآخِرِ وَمَن يَتَّقِ اللَّهَ يَجْعَل لَّهُ مَخْرَجًا ﴿٢﴾

၂။ တစ်ဖန် ထို(ကွာရှင်းခဲ့သော) ဇနီးမိန်းမများသည် ၎င်းတို့နှင့်ပတ်သက်၍ သတ်မှတ်ထားသော 'အစ်ဒ္ဒတ်'ရက်ပိုင်း၏ နောက်ဆုံးအချိန်ကာလသို့ ရောက်ခါနီးတွင် အသင်တို့သည် ၎င်းတို့အား(တရားတော်၏)စည်းကမ်းနှင့်အညီ ပြန်လည်သိမ်းပိုက်ကြလေကုန်။ သို့တည်းမဟုတ် အသင်တို့သည် (တရားတော်၏) စည်းကမ်းနှင့်အညီ ၎င်းတို့နှင့်ခွဲခွာကြလေကုန်။ [၁]

၎င်းအပြင် အသင်တို့သည် မိမိတို့အနက်မှ *သမာဓိရှိသောသူ နှစ်ယောက်ကို သက်သေထားကြလေကုန်။* [၂] ထိုမှတစ်ပါး အသင်တို့သည် အလ္လာဟ်အရှင်မြတ်အား ရည်သန်၍ ဖြောင့်မှန်စွာ သက်သေထွက်ဆိုကြလေကုန်။ ထိုသည်ကား အလ္လာဟ်အရှင်မြတ်အားလည်းကောင်း၊ နောက်ဆုံးနေ့ကိုလည်းကောင်း၊ သက်ဝင်ယုံကြည်သောသူအား ဆုံးမဩဝါဒပေးခြင်းပင်ဖြစ်၏။ [၃]

---

(၂) ဤအာယတ်တော်တွင် (لا تدرى) 'လာတဒ်ရီ'-'အသင်မသိ'ဟူသည် မိမိ၏ဇနီးအား ကွာရှင်းသူကို ရည်ညွှန်းသည်။ ဆိုလိုသည်ကား အို-ကွာရှင်းသူ၊ အသင်သည် မိမိ၏ဇနီးအား အလျင်စလို ကွာရှင်းလိုက်ပြီ။ သို့အသင် ကွာရှင်းပြီးနောက်တွင် အလ္လာဟ်အရှင်မြတ်သည် အကြောင်းတစ်စုံတစ်ရာကို အသစ်ဖန်တီး ပေးတော်မူကောင်းမူပေလိမ့်မည်။ သို့ဖန်တီးပေးမှုကြောင့် အသင်တို့ဇနီးမောင်နှံသည် ပြန်လည်သင့်မြတ်သွားနိုင်ကြပေသည်။

ထိုအခါ အသင်တို့သည် မိမိကွာရှင်းမှုပြုမိလေခြင်းဟု ဝမ်းနည်းကြေကွဲပေမည်။ ဤသည်ကို အသင်မသိ။ သို့ဖြစ်ရာ ကွာရှင်းရာတွင် အလျင်စလိုမပြုရာ၊ စိတ်လိုက်မာန်ပါမပြုမှားမိကြရာ။

(၁) 'တွလာက်ရဂ်ျအီ' ပေးခြင်းခံရသော အမျိုးသမီးများသည် 'အစ်ဒ္ဒတ်'ရက် ကုန်ဆုံးခါနီးသို့ ရောက်ရှိသွားကြသောအခါ လင်ယောကျ်ားများအဖို့ ပြုလုပ်ရန် နှစ်ခုသာရှိပေသည်။ လင်ယောကျ်ားများသည် ဇနီးမိန်းမများအား ကောင်းမြတ်သောနည်းဖြင့် ပြန်လည်သိမ်းပိုက်လိုက သိမ်းပိုက်နိုင်ကြပေသည်။ သို့တည်းမဟုတ် ဆက်လက်၍ လုံးဝမပေါင်းသင်းလိုက ကောင်းမြတ်သောနည်းဖြင့် ဂုဏ်ရှိရှိသိက္ခာရှိရှိ လုံးလုံးလျားလျား စွန့်လွှတ်နိုင်ကြပေသည်။

ဆိုလိုသည်ကား လင်ယောကျ်ားများသည် ဇနီးမိန်းမများအား ပြန်လည်သိမ်းပိုက်ကြသည်ဖြစ်စေ၊ သားမယားအဖြစ်မှ လုံးဝစွန့်လွှတ်ကွာရှင်း ပြတ်စဲကြသည်ဖြစ်စေ၊ အသို့ပင်ဖြစ်စေကာမူ ဇနီးမိန်းမများအား မည်သည့်နည်းနှင့်မျှ အရှက်တကွဲ အကျိုးနည်းအောင် မပြုလုပ်ကြရာ။ ➤➤

➤➤ တစ်ခါတစ်ရံ အချို့ယောကျာ်းများသည် မိမိတို့၏ဇနီးများအား ပြန်လည်သိမ်းပိုက်၍ သင့်မြတ်စွာ ဆက်လက်ပေါင်းသင်းလိုကြ သည်မဟုတ်၊ သို့ပါသော်လည်း 'အစ်ဒ္ဒတ်'ရက်ကို ရှည်လျားစေရန်အတွက် ကွာရှင်းမှုကိုပြန်လည်ရုပ်သိမ်းကြ၏။ ဤသို့လည်း မပြုကြရာ။

အချို့ယောကျာ်းများသည် ဇနီးမိန်းမများအား တမင်သက်သက် ဒုက္ခပေးနိုင်ရန်အတွက် ကွာရှင်းမှုကို ပြန်လည်ရုပ်သိမ်းကြ၏။ ဤသည်ကိုလည်း မပြုကြရာ။ ဤအကြောင်း ကုရ်အာန် (၂:၂၃၁)တွင် ပါရှိခဲ့ချေပြီ။

(၂) ဆိုလိုသည်ကား 'တွလာက်ရဂ်ျအီ' ပေး၍ ကွာရှင်းထားသော အမျိုးသမီးများအား 'အစ်ဒ္ဒတ်' ရက်အတွင်း ပြန်လည်သိမ်းပိုက်သည်ဖြစ်စေ၊ လုံးလုံးလျားလျား စွန့်လွှတ်လိုက်သည်ဖြစ်စေ၊ အသို့ပင်ဖြစ်စေ၊ တရားမျှတသော ဂုဏ်သမာဓိရှိသူနှစ်ဦးအား သက်သေထားကြရပေမည်။ သက်သေမထားမိကြပါက ပြန်လည်ရုပ်သိမ်းသည့် အဖြစ်မျိုးတွင် အမျိုးသမီးများဘက်မှ အငြင်းပွားနိုင်ကြပေသည်။ လုံးလုံးလျားလျား စွန့်လွှတ်သည့်အဖြစ်မျိုးတွင် ယောကျာ်းများဘက်မှ ကျွန်ုပ်သည် ကွာရှင်းမှုကို ပြန်လည်ရုပ်သိမ်းထားပြီးဖြစ်သည်ဟု လိမ်လည် ပြောဆိုနိုင်ကြ ပေသည်။ ကြည့်-ထာနဝီ။

ဇနီးမောင်နှံနှစ်ဦး ပြန်လည်ပေါင်းသင်းကြသည်ဖြစ်စေ၊ လုံးလုံးပြတ်စဲကြသည်ဖြစ်စေ၊ တရားဝင် သက်သေများ မထားရှိပါက အကြောင်းမသိသူများက ယိုးစွပ်ပြောဆိုကြပေမည်။

(၃) ယောကျာ်းများသည် ဇနီးမိန်းမများအား တစ်ကြိမ်၊ နှစ်ကြိမ်၊ သုံးကြိမ်မဟုတ်၊ ရာ(၁၀၀) နှင့်ချီ၍ ကွာရှင်းလေ့ရှိခဲ့ကြ၏။ သို့ကွာရှင်းပြီးနောက်တွင်လည်း အမျိုးသမီးတို့၏ ဒုက္ခမှာ ကုန်ဆုံး ရုပ်တန့်သွားသည် မရှိခဲ့ပေ။

ကုရ်အာန်ကျမ်းမြတ်တွင် အထူးသဖြင့် ဤကဏ္ဍတွင် ယင်းသည့် နှိပ်စက်ညှဉ်းပန်းမှု၊ မတရား ကျူးကျော်စော်ကားမှုများကို လုံးဝပိတ်ပင်တားဆီးနိုင်ရန်အလို့ငှာ ထိမ်းမြားရေး၊ ကွာရှင်းရေးနှင့်စပ်လျဉ်း၍ စည်းကမ်းချက်များကို တိကျပြတ်သားစွာ သတ်မှတ်ပြဋ္ဌာန်း ၍ပေးထားတော်မူသည်။

ဆိုလိုသည်ကား ယောကျာ်းများသည် ဇနီးမိန်းမများနှင့် ဆက်ဆံပေါင်းသင်းနေထိုင်လိုကြပါက ဇနီးများအား သားမှတ်မှတ်၊ မယားမှတ်မှတ် ဂုဏ်ရှိရှိ၊ သိက္ခာရှိရှိ ထားကြရမည်။ မလွဲမရှောင်သာ၍ ကွာရှင်းလိုပါကလည်း နှမချင်းစာနာကာ ဂုဏ်ရှိရှိ၊ သိက္ခာရှိရှိ ကောင်းမြတ်သောနည်းနှင့်ပင် ကွာရှင်းကြရပေမည်။ မည်သည့်အချိန်တွင်မျှ မည်သို့မျှ ဒုက္ခမပေးကြရ၊ အရှက်တကွဲ အကျိုးနည်း မပြုကြရ။

ဤသည့်အဆုံးအမတော်ကို အသူလိုက်နာ ကျင့်သုံးအံ့နည်း။ အလ္လာဟ်အရှင်မြတ်အားလည်းကောင်း၊ နောက်ဆုံးနေ့ကိုလည်းကောင်း၊ အမှန်တကယ် ယုံကြည်သူများသာလျှင် လိုက်နာကျင့်သုံးကြပေသည်။ အဘယ်ကြောင့်ဆိုသော် ဤသည့်ယုံကြည်မှုသည်ပင် လူသားတို့၏စိတ်တွင် အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ရိုသေခန့်ညားမှုကို ထည့်သွင်းပေးသည်။

ဤသည့်ကြောက်ရွံ့ ရိုသေခန့်ညားမှုသည်ပင် ယောကျာ်းများအား ဇနီးမိန်းမများအပေါ်၌ မတရားကျူးကျော်စော်ကားခြင်း၊ နှိပ်စက်ညှဉ်းပန်းခြင်းများမှ တားဆီးပေးပေသည်။ အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်များကို နာခံရန် တိုက်တွန်းလှုံ့ဆော်ပေးပေသည်။

ထို့အတွက်ကြောင့်ပင် ဤကဏ္ဍတွင် အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ရိုသေခန့်ညားကြရမည့် အကြောင်း အကြိမ်ကြိမ် မိန့်ဆိုထားတော်မူပေသည်။

ကုရ်အာန် (၂:၂၃၂) တွင်လည်း ဤသည့်သဘောကို မိန့်ဆိုထားတော်မူသည်။

စင်စစ်သော်ကား မည်သူမဆို အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့သည်ရှိသော် ထိုအရှင်မြတ်သည် ထိုသူတို့၏အဖို့ ထွက်မြောက်ရာနည်းလမ်းကို ပြုလုပ်၍ ပေးသနားတော်မူပေမည်။ ၁

၃။ ထိုမှတစ်ပါး ထိုအရှင်မြတ်သည် ထိုသူအား ထိုသူ မထင်သောနေရာမှ စားနပ်ရိက္ခာကို ချီးမြှင့်ပေးသနားတော်မူပေမည်။ ထိုမှတစ်ပါး မည်သူမဆို အလ္လာဟ်အရှင်မြတ်အပေါ်၌ ယုံကြည်အားထားပါမူ ထိုအရှင်မြတ်သည် ထိုသူ၏အဖို့ လုံလောက်တော်မူ၏။ ဧကန်မလွဲ အလ္လာဟ်အရှင်မြတ်သည် မိမိအရေးကိစ္စကို ပြီးမြောက်အောင် ပြုလုပ်ပေးတော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူ၏။ စင်စစ်ကေန် အလ္လာဟ်အရှင်မြတ်သည် အရာခပ်သိမ်းတို့နှင့်စပ်လျဉ်း၍ အတိုင်းအတာ အချိန်အဆတစ်ခုကို ပြုလုပ်၍ ထားရှိတော်မူပေသတည်း။

وَّيَرْزُقْهُ مِنْ حَيْثُ لَا يَحْتَسِبُ ۚ وَمَنْ يَّتَوَكَّلْ عَلَى اللّٰهِ فَهُوَ حَسْبُهٗ ۚ إِنَّ اللّٰهَ بَالِغُ أَمْرِهٖ ۚ قَدْ جَعَلَ اللّٰهُ لِكُلِّ شَيْءٍ قَدْرًا ۝٣

---

① **'တတ်က်ဝါ' သည် အချုပ်ပင်။**

အကြင်သူတစ်ဦးသည် 'တတ်က်ဝါ' တရားလက်ကိုင်ထားသော်၊ အလ္လာဟ်အရှင်မြတ်အား အမှန်တကယ် ကြောက်ရွံ့ရိုသေခန့်ညား၍ ထိုအရှင်မြတ်၏ အမိန့်တော်များကို မြေဝယ်မကျ ဦးထိပ်ရွက်ပန်သည်ရှိသော် အဘယ်မျှပင် ကြီးလေးခက်ခဲသော အခက်အခဲများနှင့် ရင်ဆိုင်ရလင့်ကစား၊ အလ္လာဟ်အရှင်မြတ်သည် ထိုသူအဖို့ ယင်းသည့် အခက်အခဲ များမှ လွတ်မြောက်ရန် နည်းလမ်းကိုဖန်တီးပေးတော်မူမည်။

ထို့ပြင်တဝ ထိုအရှင်မြတ်သည် ထိုသူကိုယ်တိုင် မတွေးထင်မိသော နေရာမှပင် စားနပ်ရိက္ခာကိုလည်း ချီးမြှင့်တော်မူမည်။ အမှန်မှာ အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ရိုသေ ခန့်ညားမှုသည် နှစ်ဘဝ၏ ဘဏ္ဍာတော်များဖြစ်သော၊ အောင်မြင်မှုအပေါင်းတို့၏ အဓိကအချက်ပင်ဖြစ်ပေသည်။

ယင်းသည့် ကြောက်ရွံ့ရိုသေခန့်ညားမှုကြောင့် အခက်အခဲများ ပြေလည်၏။ မတွေးမထင်မိသော နေရာမှ ရိက္ခာရရှိ၏။ အပြစ်များမှ လွတ်ငြိမ်းချမ်းသာခွင့်ရရှိ၏။ (ဂျန္နတ်)သုခဘုံရရှိ၏။ ကုသိုလ် အကျိုးတိုးပွား၏။ အံ့မဆုံးသည့် စိတ်၏ချမ်းသာမှုကို ခံစားရ၏။ ယင်းသည့်နောက်ပိုင်းတွင် မည်သည့်ဒုက္ခမျှ ဒုက္ခမဟုတ်တော့ပေ။ မည်သည့်အခက်အခဲမျှ ခက်ခဲသည်မရှိတော့ပေ။ ဒုက္ခအပေါင်း ချုပ်ငြိမ်းသွားသည်သာ ဖြစ်ပေသည်။

ကြည့်-ကုရ်အာန် (၆၅း၄-၅)။

တမန်တော်မြတ်က 'လူသားအားလုံးတို့သည် ဤအာယတ်တော်ကိုပင် ဆုပ်ကိုင်ထားကြပါက ၎င်းတို့အဖို့ လုံလောက်သည်'ဟူ၍ပင် မိန့်ကြားတော်မူခဲ့ပေသည်။ ကြည့်-အွတ်ဆ်မာနီ။ မဒါရစ်က်၊ နစဖီ။

၄။ ၎င်းပြင် အသင်တို့၏ (ကွာရှင်းပြီးဖြစ်သော) ဇနီးမိန်းမတို့အနက် ရာသီပန်းပွင့်ခြင်းမှ မျှော်လင့်ချက်ကင်းခဲ့ကြသော မိန်းမများသည် အကယ်၍(၎င်းတို့၏ 'အစ်ဒ္ဒတ်'နှင့်စပ်လျဉ်း၍) အသင်တို့သည် *ဒွိဟသံသယ ဖြစ်ခဲ့ကြလျှင် ၎င်းတို့၏ 'အစ်ဒ္ဒတ်'မှာ သုံးလ(တိတိ)ဖြစ်၏။* [၁] ထိုနည်းတူစွာ ရာသီပန်း ပွင့်ဖူးခဲ့သည်မရှိသေးသောမိန်းမများ(၏ 'အစ်ဒ္ဒတ်'မှာ)လည်း (သုံးလတိတိပင်)၊ ထို့မှတစ်ပါး ကိုယ်ဝန်ရှိသော မိန်းမများသည် ၎င်းတို့၏('အစ်ဒ္ဒတ်'ရက်) အပိုင်းအခြားမှာ ၎င်းတို့သည် *မိမိတို့၏ကိုယ်ဝန်ကို ဖွားမြင်ခြင်းပင်ဖြစ်၏။* [၂] စင်စစ် မည်သူမဆို အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့သည်ရှိသော် ထိုအရှင်မြတ်သည် ၎င်းတို့အဖို့ ၎င်း၏အရေးကိစ္စကို လွယ်ကူအောင် ပြုလုပ်ပေး၍ ပေးတော်မူမည်ဖြစ်၏။

وَالّٰٓـِٔيْ يَىِٕسْنَ مِنَ الْمَحِيْضِ مِنْ نِّسَآئِكُمْ اِنِ ارْتَبْتُمْ فَعِدَّتُهُنَّ ثَلٰثَةُ اَشْهُرٍ وَّالّٰٓـِٔيْ لَمْ يَحِضْنَ ۚ وَاُولَاتُ الْاَحْمَالِ اَجَلُهُنَّ اَنْ يَّضَعْنَ حَمْلَهُنَّ ۚ وَمَنْ يَّتَّقِ اللّٰهَ يَجْعَلْ لَّهٗ مِنْ اَمْرِهٖ يُسْرًا ﴿٤﴾

၅။ ထိုသည်ကား အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်ပင်၊ ထိုအရှင်မြတ်သည် ယင်းအမိန့်တော်ကို အသင်တို့ထံ ချပေးတော်မူခဲ့၏။ စင်စစ်သော်ကား မည်သူမဆို အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ပါမူ ထိုအရှင်မြတ်သည် ထိုသူ၏ ပြစ်မှုဒုစရိုက်များကို ထိုသူမှ ပပျောက်စေတော်မူမည်။ ထို့မှတစ်ပါး ထိုသူ၏ အကျိုးကျေးဇူးကို ကြီးကျယ်စေတော်မူအံ့သတည်း။

ذٰلِكَ اَمْرُ اللّٰهِ اَنْزَلَهٗٓ اِلَيْكُمْ ۚ وَمَنْ يَّتَّقِ اللّٰهَ يُكَفِّرْ عَنْهُ سَيِّاٰتِهٖ وَيُعْظِمْ لَهٗٓ اَجْرًا ﴿٥﴾

---

(၁) ကွာရှင်းထားသော အမျိုးသမီးများ၏ 'အစ်ဒ္ဒတ်' ရက်မှာ ရာသီသွေး သုံးကြိမ်ဆင်းသက်ခြင်းပင်ဖြစ်သည်။ ကြည့်-ကုရ်အာန် (၂:၂၂၈) အကယ်၍ ကွာရှင်းထားသော အမျိုးသမီးတစ်ဦးသည် အသက်အရွယ်ကြီးရင့်မှုကြောင့်သော်လည်းကောင်း၊ ရောဂါဖိစီးမှုကြောင့်သော်လည်းကောင်း၊ အသက်အရွယ်ငယ်၍သော်လည်းကောင်း၊ ရာသီသွေး မဆင်းသော် ယင်းသို့သော အမျိုးသမီး၏ 'အစ်ဒ္ဒတ်' ရက်မှာ သုံးလဖြစ်သည်။

(၂) ကိုယ်ဝန်ဆောင် အမျိုးသမီးတစ်ဦးသည် ကွာရှင်းခြင်းခံခဲ့ရသော် ၎င်း၏ 'အစ်ဒ္ဒတ်' ရက်မှာ မိမိ၏ကိုယ်ဝန်ကို ဖွားမြင်သည် အထိဖြစ်သည်။ ကိုယ်ဝန်ကို ဖွားမြင်ရာတွင် အချိန်တိုတောင်းသည်ဖြစ်စေ၊ ကြာညောင်းသည်ဖြစ်စေ၊ သုံးလအတွင်း ဖွားမြင်သည်ဖြစ်စေ၊ သုံးလထက်ကျော်မှပင် ဖွားမြင်သည်ဖြစ်စေ အတူတူပင်။ ➢➢

၆။ အသင်တို့သည် ထို(ကွာရှင်းပြီး ဖြစ်ကြသော) မိန်းမများအား မိမိတို့ နေထိုင်ရာတွင် *မိမိတို့၏ ကြွယ်ဝမှုနှင့်လျော်ညီ(နေထိုင်ရန်) အိမ်ပေးကြလေကုန်*။ [၁] ထို့အပြင် အသင်တို့သည် ၎င်းတို့အပေါ်၌ ကျပ်တည်းစေခြင်းငှာ ၎င်းတို့အား *ဒုက္ခမပေးကြကုန်လင့်*။ [၂]

أَسْكِنُوهُنَّ مِنْ حَيْثُ سَكَنتُم مِّن وُجْدِكُمْ وَلَا تُضَآرُّوهُنَّ لِتُضَيِّقُوا۟ عَلَيْهِنَّ ۚ وَإِن كُنَّ أُو۟لَٰتِ

---

➤➤ ကိုယ်ဝန်ဆောင် အမျိုးသမီးတစ်ဦးသည် ကွာရှင်းပြီးနောက် နာရီပိုင်းအတွင်းမှာပင် ဖွားမြင်သော်၊ ၎င်း၏ 'အစ်ဒ္ဒတ်' ရက်မှာ ပြည့်စုံသွားပြီဟူ၍ မှတ်ယူရမည်။ဖွားမြင်ရာတွင် အချိန်အလွန်ကြန့်ကြာ နေပါကလည်း ကလေးမဖွားမြင်သမျှ ၎င်း၏ 'အစ်ဒ္ဒတ်' ရက်မှာ ကုန်ဆုံးမည်မဟုတ်ပေ။ ကြည့်-မာဂျိဒီ။

(၁) ကွာရှင်းထားသော အမျိုးသမီးများအား 'အစ်ဒ္ဒတ်'ရက် ကုန်ဆုံးသည်ထိ မိမိတို့ နေထိုင်ရာတွင် နေရာထိုင်ခင်းပေးခြင်းသည် သက်ဆိုင်ရာ ကွာရှင်းသောလင်ယောကျ်ားများ၏ တာဝန်ပင် ဖြစ်သည်။ ဤသည်ကို 'စွတ်က်နာ' ဟု ခေါ်သည်။

လင်ယောကျ်ားများသည် မိမိတို့ကွာရှင်းထားသော အမျိုးသမီးများအား 'အစ်ဒ္ဒတ်'ရက် ကုန်ဆုံးသည်အထိ နေရာထိုင်ခင်း ပေးနေကြရသည်ဖြစ်ရာ စားသောက်ရေးကိုလည်း တာဝန်ယူကြရပေမည်။ တာဝန်ယူမှုမှာ မိမိ၏အခြေအနေအရ ထိုက်တန်သည့်အား လျော်ညီစွာ ဖြစ်ရပေမည်။

ဟနဖီဂိုဏ်း၏ ယူဆချက်အရ နေရာထိုင်ခင်းပေးရေး၊ စားရေးသောက်ရေးဆိုင်ရာ၊ ဤအမိန့်တော်သည် ကွာရှင်းခြင်းခံရသော အမျိုးသမီးအားလုံးနှင့် သက်ဆိုင်ပေသည်။ (တွလာက်ရဂ်ျအီ) ပြန်လည်ရုပ်သိမ်းပိုင်ခွင့်ရှိသော ကွာရှင်းခြင်းမျိုးဖြင့် ကွာရှင်းခံရသော အမျိုးသမီးများသာလျှင် သက်ဆိုင်သည်မဟုတ်ပေ။

(ဟဒီးဆ်)ဩဝါဒတော်ဆိုင်ရာ ကျမ်းကြီးများတွင် ဖာတိမဟ်ဗင်န်တ ကိုတ်စ်က 'ကျွန်မ၏ခင်ပွန်းသည် ကျွန်မအား 'တွလာက်' သုံးကြိမ်ပေးလိုက်ပါသည်။ တမန်တော်မြတ်သည် ကျွန်မအား နေထိုင်ရေးနှင့် စားရေးသောက်ရေးကို စီစဉ်ပေးတော်မမူခဲ့ပါ'ဟု ဖွင့်ဟပြောဆိုခဲ့သည့်အကြောင်း ပါရှိ၏။

ဤအကြောင်းကို သမ္မတကြီး အုမရ်၊ ကြင်ရာတော် အာအိရှဟ်၊ ဆွဟာဗဟ်သာဝကကြီးများနှင့် 'တာဗိအီ' မည်သော အတိတ်ခေတ်ပညာရှင်များက လက်မခံခဲ့ကြပေ။ သမ္မတကြီးအုမရ်က 'ကျွန်ုပ်တို့သည် အမျိုးသမီးတစ်ဦး၏ ပြောဆိုမှုကြောင့် အလ္လာဟ်အရှင်မြတ်၏ ကျမ်းဂန်နှင့် တမန်တော်မြတ်၏ စွန္နတ်တော်ကို မစွန့်လွှတ်နိုင်ကြပေ'ဟူ၍ပင် ထုတ်ဖော်ပြောဆိုခဲ့လေသည်။

ဆိုလိုသည်ကား တွလာက်သုံးကြိမ်ပေးခြင်းခံရသော အမျိုးသမီးအားလည်း နေရာထိုင်ခင်းနှင့် စားသောက်ရေးကို စီစဉ်ပေးခြင်းမှာ သက်ဆိုင်ရာလင်ယောကျ်ား၏ တာဝန်ပင်ဖြစ်သည်ဟူ၍ သမ္မတကြီးအုမရ်သည် ကုရ်အာန်ကျမ်းလာ အာယတ်တော်များအရ ပိုင်နိုင်စွာ နားလည်သဘောပေါက်၍ နေခဲ့ပေသည်။

ဤအကြောင်းနှင့်စပ်လျဉ်း၍ သမ္မတကြီးအုမရ်ထံတွင် တမန်တော်မြတ်၏ ဩဝါဒတော်များလည်း အခိုင်အမာရှိနေခဲ့ပေသည်။ ယင်းသည့်ဩဝါဒတော်များကို တွဟာဝီနှင့် အခြားအာလင်မ်ပညာရှင်ကြီးများကလည်း မိမိတို့၏ကျမ်းကြီးများတွင် အတိအလင်း ဖော်ပြထားကြပေသည်။ ဤအကြောင်းနှင့်စပ်လျဉ်း၍ မော်လာနာ အွတ်ဆ်မာနီသခင်က မိမိ၏ကျမ်းတွင် အကျယ်တဝင့်ဖွင့်ဆို ရေးသားထားသည်။ ကျမ်းလေးမည်စိုး၍ အကျယ်မရေးပြီ။

حَمۡلٍ فَأَنفِقُواْ عَلَيۡهِنَّ حَتَّىٰ يَضَعۡنَ حَمۡلَهُنَّۚ فَإِنۡ أَرۡضَعۡنَ لَكُمۡ فَـَٔاتُوهُنَّ أُجُورَهُنَّ وَأۡتَمِرُواْ بَيۡنَكُم بِمَعۡرُوفٖۖ وَإِن تَعَاسَرۡتُمۡ فَسَتُرۡضِعُ لَهُۥٓ أُخۡرَىٰ ٦

ထိုမှတစ်ပါး အကယ်၍ ထိုမိန်းမများမှာ ကိုယ်ဝန်ရှိသူများ ဖြစ်ခဲ့ကြလျှင် အသင်တို့သည် ၎င်းတို့နှင့်ပတ်သက်၍ ၎င်းတို့သည် *မိမိတို့၏ကိုယ်ဝန်ကို ဖွားမြင်ကြသည်အထိ သုံးစွဲကြလေကုန်။* [၁]

တစ်ဖန် အကယ်၍ ၎င်းတို့သည် အသင်တို့ အကျိုးငှာ (အသင်တို့၏ကလေးကို) နို့တိုက်ကျွေးခဲ့ကြလျှင် အသင်တို့သည် ၎င်းတို့အား ၎င်းတို့အခများကို ပေးဆပ်ကြလေကုန်။ ထိုမှတစ်ပါး အသင်တို့သည် မိမိတို့အချင်းချင်း သင့်လျော်စွာ ညှိနှိုင်းတိုင်ပင်ကြလေကုန်။ သို့ရာတွင် အကယ်၍ သင်တို့သည် အချင်းချင်း မညီမညွတ် မပြေမလည် ဖြစ်ခဲ့ကြလျှင် ထို(ဖခင်)၏ အကျိုးငှာ အခြားမိန်းမ တစ်ဦးတစ်ယောက်သည် နို့တိုက်ကျွေးရမည်ဖြစ်၏။ [၂]

---

(၂) ဆိုလိုသည်ကား ကွာရှင်းထားသော အမျိုးသမီးများအား နေအိမ်မှ ထွက်ခွာသွားစေရန်အတွက် ဒုက္ခမပေးကြရာ၊ အကျပ်အတည်းမဖြစ်စေကြရာ။ 'ပေးကားပေး၏၊ မရ' ဆိုရိုးစကားကဲ့သို့ အမည်ခံမပေးကြရာ။ အကျပ်ကိုင်၍ အိမ်မှနှင်မထုတ်ကြရာ။

ဇနီးမိန်းမများအား ကွာရှင်းလိုကလည်း ဂုဏ်ရှိရှိ၊ သိက္ခာရှိရှိ ကွာရှင်းကြရမည်။ ဇနီးမိန်းမများနှင့် ပြန်လည်ပေါင်းသင်းလိုပါကလည်း ဂုဏ်ရှိရှိ၊ သိက္ခာရှိရှိ ပေါင်းသင်းကြရမည်။ ကွာရှင်းထားသော အမျိုးသမီးများနှင့်လည်း 'အစ်ဒ္ဒတ်' ရက်အတွင်း ဂုဏ်ရှိရှိ၊ သိက္ခာရှိရှိနှင့်ပင် ဆက်ဆံကြရပေမည်ဟူ၏။

(၁) ကွာရှင်းခံရသော အမျိုးသမီးများသည် ကိုယ်ဝန်ဆောင်များဖြစ်နေပါက၊ ကလေးဖွားမြင်ကြသည်အထိ ၎င်းတို့အား စားစရိတ်ကို သက်ဆိုင်ရာ ကွာရှင်းထားသော ယောကျာ်းများက ပေးကြရမည်ဖြစ်သည်။ ဤသို့ အထူးတလည် မိန့်ဆိုထားတော်မူခြင်းမှာ တစ်ခါတစ်ရံ ကိုယ်ဝန်ဆောင်အမျိုးသမီးတစ်ဦးသည် သားဖွားရာတွင် အချိန်အတော်အတန် ကြာလေ့ရှိတတ်သည်။ သို့အချိန်ကြာသည့် အခါမျိုးတွင် သက်ဆိုင်ရာ ယောကျာ်းဖြစ်သူသည် သုံးလအထိသာ စားစရိတ်ပေး၍၊ ထို့နောက် စားစရိတ်ပေးခြင်းကို ရပ်စဲမပစ်ရန်ပင်ဖြစ်သည်။

(၂) ကလေးဖွားမြင်ပြီးနောက် အကယ်၍ ကလေး၏မိခင်သည် ကလေးအား နို့ရည်တိုက်ကျွေးပါက၊ ကလေး၏ ဖခင်သည် အခြားနို့ထိမ်းသည်ကို ငှားရမ်းပါက အခကြေးငွေပေးရသကဲ့သို့ ကလေးမိခင်အား ပေးရပေမည်။ အခကြေးငွေကိုလည်း အချင်းချင်း တိုင်ပင်၍ လျော်ကန်သင့်မြတ်စွာ သတ်မှတ်ကြရပေမည်။ အခကြေးငွေကို သတ်မှတ်ရာတွင် အချင်းချင်းထောက်ထားကြရပေမည်။ အကျပ်မကိုင်ကြရာ၊ မဖိနှိပ်ကြရာ၊ ကလေး၏မိခင်ကလည်း မိမိ၏ကလေးအား နို့တိုက်ခြင်းမှမငြင်းရာ။ ကလေး၏ဖခင်ကလည်း ကလေးမိခင်ရှိပါလျက် အခြားနို့ထိမ်းမငှားရာ။

➤➤

لِيُنفِقْ ذُو سَعَةٍ مِّن سَعَتِهِۦ ۖ وَمَن قُدِرَ عَلَيْهِ رِزْقُهُۥ فَلْيُنفِقْ مِمَّآ ءَاتَىٰهُ ٱللَّهُ ۚ لَا يُكَلِّفُ ٱللَّهُ نَفْسًا إِلَّا مَآ ءَاتَىٰهَا ۚ سَيَجْعَلُ ٱللَّهُ بَعْدَ عُسْرٍ يُسْرًا ٧

၇။ ကြွယ်ဝချမ်းသာသောသူသည် မိမိကြွယ်ဝမှုနှင့်လျော်ညီစွာ သုံးစွဲရပေမည်။ သို့ရာတွင် စီးပွားဥစ္စာကျပ်တည်းသောသူမှာမူကား မိမိအား အလ္လာဟ်အရှင်မြတ် ချီးမြှင့်ပေးသနားတော်မူသမျှ (ဥစ္စာပစ္စည်း) အနက်မှ သုံးစွဲရပေမည်။

အလ္လာဟ်အရှင်မြတ်သည် မည်သူတစ်ဦး တစ်ယောက်ကိုမျှပင် မိမိချီးမြှင့်ပေးသနားတော်မူသည်ထက်ပို၍ တာဝန်ပေးသည်မဟုတ်ပေ။ အလ္လာဟ်အရှင်မြတ်သည် ကျပ်တည်းမှု၏နောက်တွင် မကြာမြင့်မီပင် ချောင်လည်မှုကိုဖန်တီး၍ *ပေးသနားတော်မူအံ့သတည်း။* [၁]

---

➤➤ ကလေးနို့တိုက်ကျွေးရေးစပ်လျဉ်း၍ ကလေး၏မိခင်သည် ကလေးအား နို့တိုက်ကျွေးရန် သဘောမတူပါက ကလေးအား အခြားနို့ထိမ်းသည် တစ်ဦးဦးက တိုက်ကျွေးပေးလိမ့်မည်။ ကလေးအား နို့တိုက်ကျွေးမှုသည် ကလေး၏မိခင်အပေါ်၌သာလျှင် တည်ရှိနေသည် မဟုတ်ပေရာ၊ ကလေး၏မိခင်သည် အကြောင်းမဲ့ ဦးခေါင်းမမာရာ။

တဖန် ကလေး၏ဖခင်သည် ကလေးအား ကလေး၏မိခင်က နို့တိုက်ကျွေးသည်ကိုပင် အကြောင်းမဲ့ မလိုလားသော် အဆိုပါ ကလေး၏ဖခင်သည် ကလေးအား နို့တိုက်ကျွေးနိုင်ရန်အတွက် အခြားနို့ထိမ်းသည် တစ်ဦးဦးအား မလွှဲမရှောင်သာ ငှားရမ်းရမည်သာဖြစ်သည်။ သို့ငှားရမ်းသည့်အခါ နို့ထိမ်းသည်အားလည်း နည်းများမဆို အခကြေးငွေ ပေးရမည်သာဖြစ်သည်။ သို့ဖြစ်ရာ ယင်းသည့်အခကြေးငွေကို သူတစ်ပါးအား ပေးရမည့်အစား ကလေး၏မိခင်အား အဘယ်လိုသနည်း။

ဆိုလိုသည်ကား ဇနီးမောင်နှံနှစ်ဦးတို့သည် အကြောင်းတစ်ခုခုကြောင့် မလွှဲမရှောင်သာ ပြတ်စဲကြသော်လည်း မိမိတို့၏ရင်သွေးအား နို့တိုက်ကျွေးရေးကိစ္စတွင်မူ အချင်းချင်း ထောက်ထားသင့်ကြပေသည်။ မိခင်ဖြစ်သူကလည်း မိမိ၏ရင်သွေးအား နို့တိုက်ကျွေးသင့်ပေသည်။ ဖခင်ဖြစ်သူကလည်း ကလေး၏မိခင်အား လျော်ကန်သင့်မြတ်သည့် အခကြေးငွေကိုပေးကြောင့် မပေးသင့်ပေသည်။

(၁) ဆိုလိုသည်ကား ကလေးအား မွေးမြူစရိတ်သည် ဖခင်၏တာဝန်ပင်ဖြစ်သည်။ ဖခင်ဖြစ်သူသည် ဥစ္စာခနကုံလုံကြွယ်ဝပါက ကြွယ်ဝသည့်အလျောက်၊ ဆင်းရဲနွမ်းပါးပါက နွမ်းပါးသည့်အလျောက် မွေးမြူစရိတ်ပေးရမည်။ အလ္လာဟ်အရှင်မြတ်သည် မည်သူ့ကိုမှ မိမိချီးမြှင့်ထားတော်မူသည်ထက်ပို၍ တာဝန်ပေးတော်မူသည်မရှိပေ။

အကယ်၍ ဖခင်ဖြစ်သူသည် ဆင်းရဲနွမ်းပါးသည့်အချိန်တွင် အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်နှင့်အညီဆုံး သုံးစွဲပါက ထိုအရှင်မြတ်သည် မိမိ၏ကျေးဇူးတော်ဖြင့် ထိုသူ၏ကျပ်တည်းမှုကို ချောင်လည်မှုဖြင့်လည်းကောင်း၊ ဆင်းရဲနွမ်းပါးမှုကို ကြွယ်ဝချမ်းသာမှုဖြင့်လည်းကောင်း ပြောင်းလဲပေးတော်မူမည်ဖြစ်သည်။

وَكَأَيِّن مِّن قَرْيَةٍ عَتَتْ عَنْ أَمْرِ رَبِّهَا وَرُسُلِهِ فَحَاسَبْنَاهَا حِسَابًا شَدِيدًا وَعَذَّبْنَاهَا عَذَابًا نُّكْرًا ﴿٨﴾

၈။ စင်စစ်သော်ကား မြောက်မြားစွာသော မြို့ရွာများ(၌ နေထိုင်သောသူတို့)သည် မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်၏ အမိန့်တော်ကိုလည်းကောင်း၊ ထိုအရှင်မြတ်၏ ရစူလ်တမန်တော်များ၏ အမိန့်များကိုလည်းကောင်း၊ ဖီဆန်တော်လှန်ခဲ့ကြလေ၏။ သို့ဖြစ်ပေရာ ငါအရှင်မြတ်သည် ယင်း မြို့(သူ)ရွာ(သား)တို့အား ပြင်းထန်စွာ စစ်ဆေးတော်မူသည့်ပြင် ၎င်းတို့အား ဆိုးရွားလှသော ပြစ်ဒဏ်ကို တပ်ရိုက်စီရင်တော်မူခဲ့သည်။

فَذَاقَتْ وَبَالَ أَمْرِهَا وَكَانَ عَاقِبَةُ أَمْرِهَا خُسْرًا ﴿٩﴾

၉။ မည်သို့ပင်ဖြစ်စေ ယင်းမြို့(သူ)ရွာ(သား)တို့မှာ မိမိတို့၏ အမှုကိစ္စများနှင့်စပ်လျဉ်း၍ ပြစ်ဒဏ်ကို မြည်းစမ်းခဲ့ကြရကုန်၏။ စင်စစ် ၎င်းတို့၏ နောက်ဆုံးအကျိုးမှာ ဆုံးရှုံးမှုပင် ဖြစ်ခဲ့လေ၏။ [၁]

---

(၁) ဆိုလိုသည်ကား အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်များကို အထူးသဖြင့် အမျိုးသမီးများနှင့်စပ်လျဉ်းသည့် အမိန့်တော်များကို တိကျမှန်ကန်စွာ လိုက်နာကျင့်သုံးကြရပေမည်။ တမန်တော်မြတ်ကလည်း "အသင်တို့အနက် အကောင်းဆုံးမှာ မိမိတို့၏ အိမ်သူအိမ်သား သားမယားတို့အပေါ်၌ ကောင်းသူသာဖြစ်သည်။ ကျွန်ုပ်သည် အသင်တို့တွင် မိမိ၏အိမ်သူအိမ်သား သားမယားတို့အပေါ်၌ အကောင်းဆုံးပင်ဖြစ်သည်"ဟု မိန့်ကြားတော်မူခဲ့လေသည်။ သို့ပါလျက် အကြင်သူတစ်ဦးသည် အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်ကို တော်လှန်ကာ၊ တမန်တော်မြတ်၏လမ်းစဉ်ကို သွေဖည်ကာ မိမိ၏အိမ်သူအိမ်သား သားမယားအပေါ်၌ မောက်မာဆိုးသွမ်းသောင်းကျန်းလာပါက၊ အလ္လာဟ်အရှင်မြတ်အား တော်လှန်၍ တမန်တော်များ၏လမ်းစဉ်ကို သွေဖည်သူများ၏ သွားရာလမ်းကား ဘယ်သောအခါမျှ သာယာဖြောင့်ဖြူးခြင်းမရှိသည်ကို သိထားရာသည်။

အတိတ်ခေတ်များတွင် မြောက်မြားစွာသော မြို့သူရွာသားတို့သည် အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်ကို တော်လှန်ခဲ့ကြ၏။ တမန်တော်များ၏လမ်းစဉ်ကို သွေဖည်ခဲ့ကြ၏။ ထိုအခါ အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့အား ပြင်းပြင်းထန်ထန် အရေးယူတော်မူခဲ့၏။ တစ်ဦးတစ်ယောက်မျှမမြင်ဘူး၊ မကြားဘူးသော ကြီးလေးလှသည့် ပြစ်ဒဏ်ကို တပ်ရိုက်စီရင်တော်မူခဲ့၏။

နောက်ဆုံးတွင် ယင်းမြို့သူရွာသားများသည် ပြစ်ဒဏ်သင့်၍ မရှုမလှသေကြေဆုံးရှုံး ပျက်ပြုန်းသွားခဲ့ကြလေသည်။ ဤသည့်ပြစ်ဒဏ်သည် ဤမျက်မှောက် ပစ္စက္ခဘဝအတွက်သာလျှင် ဖြစ်ချေသည်။ နောင်တမလွန်ဘဝတွင်လည်း အတိုင်းမသိ ပြင်းထန်သောပြစ်ဒဏ်ကို ခံစားကြရပေဦးမည်။ ဤကား အမိန့်တော်ကို တော်လှန်မှု၊ သွေဖည်မှု၊ မောက်မာမှု၊ ဆိုးသွမ်းမှု၏အကျိုးပင်။ သို့ဖြစ်ရာ အသိဉာဏ်အမြော်အမြင် ရှိသူများသည် အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ရိုသေခန့်ညားကာ ထိုအရှင်မြတ်၏ အမိန့်တော်များကို မတော်လှန်မိကြရာ၊ ➤➤

أَعَدَّ اللَّهُ لَهُمْ عَذَابًا شَدِيدًا ۖ
فَاتَّقُوا اللَّهَ يَا أُولِي الْأَلْبَابِ ۚ
الَّذِينَ آمَنُوا ۚ قَدْ أَنزَلَ اللَّهُ
إِلَيْكُمْ ذِكْرًا ﴿١٠﴾

၁၀။ အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့နှင့်ပတ်သက်၍ ပြင်းထန်လှစွာသောပြစ်ဒဏ်ကို အဆင်သင့်ပြုလုပ်၍ထားရှိတော်မူ၏။ သို့ဖြစ်ပေရာ အို-သက်ဝင် ယုံကြည်ခဲ့ကြလေသောဉာဏ်ရှင်တို့၊ အသင်တို့သည် အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ကြလေကုန်၊ ဧကန်စင်စစ် အလ္လာဟ်အရှင်မြတ်သည် အသင်တို့ထံ "ဆုံးမစာ" (ကုရ်အာန်ကျမ်းတော်မြတ်)ကို ချပေးသနားတော်မူခဲ့၏။

رَّسُولًا يَتْلُو عَلَيْكُمْ آيَاتِ اللَّهِ
مُبَيِّنَاتٍ لِّيُخْرِجَ الَّذِينَ آمَنُوا
وَعَمِلُوا الصَّالِحَاتِ مِنَ الظُّلُمَاتِ إِلَى
النُّورِ ۚ وَمَن يُؤْمِن بِاللَّهِ وَيَعْمَلْ
صَالِحًا يُدْخِلْهُ جَنَّاتٍ تَجْرِي مِن
تَحْتِهَا الْأَنْهَارُ خَالِدِينَ فِيهَا أَبَدًا ۖ
قَدْ أَحْسَنَ اللَّهُ لَهُ رِزْقًا ﴿١١﴾

၁၁။ (ထိုမှတစ်ပါး) ရစူလ်တမန်တော် တစ်ပါးကို (စေလွှတ်တော်မူခဲ့ရာ) ထိုရစူလ်တမန်တော်သည် အသင်တို့၏ရှေ့ဝယ် အလ္လာဟ်အရှင်မြတ်၏ ရှင်းလင်းသော အာယတ်တော်များကို ဖတ်ကြားလေ၏။ (ထိုသို့ ပြုလုပ်တော်မူခြင်းမှာ) ထိုအရှင်မြတ်သည် သက်ဝင်ယုံကြည်ပြီးနောက် ကောင်းမှုများကို ကျင့်မူတည်ဆောက်ခဲ့ကြသောသူတို့အား အမှောင်ထုမှ အလင်းသို့ ထွက်စေတော်မူအံ့သောငှာဖြစ်၏။

စင်စစ်သော်ကား မည်သူမဆို အလ္လာဟ်အရှင်မြတ်အားယုံကြည်၍ ကောင်းမှုကို ကျင့်မူတည်ဆောက်ပါလျှင် ထိုအရှင်မြတ်သည် ၎င်းအား အကြင်ဥယျာဉ်များသို့ အမြဲထာဝစဉ် နေနိုင်သူများအဖြစ် ဝင်ရောက်စေတော်မူပေမည်။ ထိုဥယျာဉ်များ၏အောက်မှ ချောင်းများသည် စီးတွေလျက် ရှိပေမည်။ စင်စစ်ဧကန် အလ္လာဟ်အရှင်မြတ်သည် ထိုသူတို့အား မွန်မြတ်လှစွာသော စားနပ်ရိက္ခာကို ချီးမြှင့်တော်မူခြင်းပင်။

➤➤ တမန်တော်မြတ်၏လမ်းစဉ်ကို မသွေဖည်မိကြရာ၊ အထူးသဖြင့် မိမိတို့၏အိမ်သူအိမ်သား သားမယားတို့အပေါ်၌ မဆိုးသွမ်းမိကြရာ။ အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်ကို တော်လှန်၍ သက်ဆိုင်ရာ တမန်တော်များ၏ လမ်းစဉ်ကို သွေဖည်မိခဲ့ကြသည့်အတွက် ပြစ်ဒဏ်သင့်၍ မရှုမလှ သေကြေပျက်စီးသွားခဲ့ကြရသော အတိတ်ခေတ်သူမိုက်တို့၏ အဖြစ်အပျက်မှ သင်ခန်းစာရယူကြရာသတည်း။ သို့မဟုတ်ပါမူ မိမိတို့၏ သွားရာလမ်းမှာလည်း နှစ်ဘဝစလုံးတွင် သာယာ ဖြောင့်ဖြူးခြင်းရှိမည် မဟုတ်ပါတကား။

اَللّٰهُ الَّذِىۡ خَلَقَ سَبۡعَ سَمٰوٰتٍ وَّمِنَ الۡاَرۡضِ مِثۡلَهُنَّ ؕ

၁၂။ အလ္လာဟ်အရှင်မြတ်သည် အကြင်အရှင်မြတ်ပင်၊ ထိုအရှင်မြတ်သည် မိုးခုနစ်ထပ်ကို ဖန်ဆင်းတော်မူခဲ့၏။ ၎င်းပြင် မြေကိုလည်း ယင်းကဲ့သို့ပင် *(ဖန်ဆင်းတော်မူခဲ့၏။)* ၁

① အလ္လာဟ်အရှင်မြတ်၏ တန်ခိုးတော်ကား အလွန်တရာကြီးမြတ်သည်ပင်။ ထိုအရှင်မြတ်သည် မိုးခုနစ်ထပ်ကို ဖန်ဆင်းထားတော်မူ၏။ ထိုအရှင်မြတ်သည်ပင် ပထဝီမြေကိုလည်း ယင်းမိုးများကဲ့သို့ပင် ဖန်ဆင်းထားတော်မူ၏။ ဤအာယတ်တော်ကို ပညာရှင်သုခမိန်များသည် အမျိုးမျိုးအနက် ဖွင့်ကြပေသည်။

(၁) များသောအားဖြင့် ပညာရှင်များသည် ဤအာယတ်တော်ကို အကြောင်းပြု၍ မိုးခုနစ်ထပ်ရှိသကဲ့သို့ မြေကြီးလည်း ခုနစ်ထပ်ရှိသည်ဟူ၍ပင် ယူဆကြသည်။ 'တိရ်မိဇီ' အစရှိသည့် ဟဒီးဆ်သြဝါဒတော်ဆိုင်ရာ ကျမ်းကြီးများတွင်လည်း မိုးခုနစ်ထပ်ရှိသကဲ့သို့ မြေကြီးလည်း ခုနစ်ထပ်ရှိကြောင်း၊ မြေခုနစ်ထပ်အနက် ကျန်ခြောက်ထပ်မှာ ဤကမ္ဘာမြေကြီးအောက်တွင်ပင် တည်ရှိကြောင်း ပါရှိသည်။ (ကျန်မြေကြီးခြောက်ထပ်သည် အချို့အခြေအနေများတွင် ဤကမ္ဘာမြေကြီးအောက်၌ တည်ရှိ၍ အချို့အခြေအနေများတွင် ဤကမ္ဘာမြေကြီး အပေါ်၌လည်း တည်ရှိနိုင်ပေသည်။) ကြည့်-မာဂျိဒီ၊ အွတ်ဆ်မာနီ၊ ထာနဝီ။

(၂) အချို့၏ယူဆချက်အရ မိုးခုနစ်ထပ်ရှိသကဲ့သို့ ပထဝီမြေကြီးသည်လည်း ခုနစ်ထပ်ရှိသည်။ သို့ရာတွင် လူသားတို့သည် ကျန်မြေခြောက်ထပ်ကို မမြင်နိုင်စွမ်းကြသေးပေ။ သို့တည်းမဟုတ် ယင်းကျန်မြေများကိုပင် လူသားတို့သည် (မိရ်ရိခ်) အင်္ဂါဂြိုဟ်စသည်ဖြင့် အမျိုးမျိုးအမည် မှည့်ခေါ်သမုတ်နေကြသည်လည်း ဖြစ်နိုင်ပေသည်။ ကြည့်-မာဂျိဒီ၊ အွတ်ဆ်မာနီ၊ ထာနဝီ။

(၃) အချို့ယူဆချက်အရ မြေခုနစ်ထပ်ဟူသည် အမေရိက၊ အာရှ၊ ဥရောပ၊ အာဖရိကစသည့် ကမ္ဘာမြေဆိုင် တိုက်ကြီးခုနစ်ခုကို ဆိုလိုသည်။ ရှုဟုလ်မအာနီကျမ်းတွင် ဤအတိုင်းအဆိုတစ်ရပ် တွေ့ရှိရသည်။ ကြည့်-မာဂျိဒီ၊ မဒါရိက်နစဖီ။

(၄) အချို့ယူဆချက်အရ လူသားတို့သည် တစ်နေ့တစ်ခြားချဲ့ထွင်ကာ စကြာဝဠာကြီးကို အမျိုးမျိုး ရှာဖွေစုံစမ်းလျက်ရှိကြ၏။ ဂြိုဟ်တုအမျိုးမျိုးကိုလွှတ်၍ သုတေသနပြုလုပ်လျက်ရှိကြ၏။ လကမ္ဘာတွင် မြေကြီး မရှိဟု မဆိုနိုင်ချေ။ ကျန်ဂြိုဟ်များတွင်လည်း မြေကြီးမရှိဟု မဆိုနိုင်ချေ။ တချိန် ဂြိုဟ်များတွင် မြေရှိကြောင်း ထင်ရှားလာပါက ကမ္ဘာမြေကြီးခုနစ်ခုရှိသည်မှာ အထင်းသားအမြင်သား ပေါ်လွင်ထင်ရှားလာနိုင်ပေသည်။ ဤသည့်ထင်မြင်ချက်ကိုလည်း ရှုဟုလ်မအာနီကျမ်းရှင်က မိမိ၏ကျမ်းတွင်ပင် ထည့်သွင်းဖော်ပြထားပေသည်။ ကြည့်-မာဂျိဒီ။

(၅) ဤအာယတ်တော်တွင် 'အလ္လာဟ်အရှင်မြတ်သည်ပင် မိုးခုနစ်ထပ်ကိုလည်းကောင်း၊ မြေကိုလည်း ယင်းမိုးများကဲ့သို့ပင်လည်းကောင်း၊ ဖန်ဆင်းထားတော်မူသည်' ဟု နှိုင်းယှဉ် မိန့်ဆိုထားတော်မူသည်။ ဤ နှိုင်းယှဉ်ချက်သည် မိုးခုနစ်ထပ်ရှိသကဲ့သို့ မြေခုနစ်ထပ်ရှိသည်ကို နှိုင်းယှဉ်သည်မဟုတ်၊ ဖန်ဆင်းမှုကိုသာ နှိုင်းယှဉ်ခြင်းဖြစ်သည်။ (ဝ) အလ္လာဟ်အရှင်မြတ်သည် မိုးကိုဖန်ဆင်းတော်မူသကဲ့သို့ မြေကိုလည်း ဖန်ဆင်းတော် မူသည်။ (ဝ) မိုးသည် အလ္လာဟ်အရှင်မြတ်၏ အဖန်ဆင်းခံဖြစ်သကဲ့သို့၊ မြေသည်လည်း အလ္လာဟ်အရှင်မြတ်၏ အဖန်ဆင်းခံပင်ဖြစ်သည်။ ဤသည့် ထင်မြင်ယူဆချက်ကိုလည်း ရှုဟုလ်မအာနီကျမ်းတွင် ထည့်သွင်းဖော်ပြထား သည်။ မာဂျိဒီသည်လည်း ဤနည်းနှင်နှင်ပင် ယူဆသည်။ ကြည့်-မာဂျိဒီ။ ➢➢

يَتَنَزَّلُ الْأَمْرُ بَيْنَهُنَّ لِتَعْلَمُوٓا أَنَّ اللّٰهَ عَلٰى كُلِّ شَىْءٍ قَدِيرٌ وَأَنَّ اللّٰهَ قَدْ أَحَاطَ بِكُلِّ شَىْءٍ عِلْمًا ﴿١٢﴾

ယင်းမိုးနှင့်မြေတို့ အကြားဝယ် အမိန့်တော်များသည် ဆင်းသက်လေ၏။ (ယင်းသို့ဖြစ်ရခြင်းမှာ) ဧကန်မလွဲ အလ္လာဟ်အရှင်မြတ်သည် အရာခပ်သိမ်းတို့ကို စွမ်းဆောင်နိုင်တော်မူကြောင်းကိုလည်းကောင်း၊ ထိုမှတစ်ပါး အလ္လာဟ်အရှင်မြတ်သည် အရာခပ်သိမ်းတို့ကို အသိပညာဖြင့် အမှန်ပင် ဝန်းခြုံလျက် ရှိတော်မူကြောင်းကိုလည်းကောင်း၊ အသင်တို့ သိရှိကြအံ့သောငှာ ဖြစ်ပေသတည်း။ ၁

---

➤➤ (၆) မြေခုနစ်ထပ်ဟူသည် ဤကမ္ဘာမြေကြီး၏ အလွှာခုနစ်လွှာဟု ယူဆပါကလည်း မမှားနိုင်ပေ။ ကြည့်-မာဂျိဒီ။

(၇) အိဗ်နုကဆီရ်ကျမ်းတွင် အောက်ပါအတိုင်း အံ့ဖွယ်သရဲသြဝါဒတော်တစ်ပါး တွေ့ရှိရပေသည်။

ဤအာယတ်တော်နှင့်စပ်လျဉ်း၍ သာဝကကြီး အိဗ်နုအဗ္ဗားစ်က ဖွင့်ဟပြောဆိုခဲ့သည်မှာ မြေကြီးခုနစ်ခုရှိသည့် မြေကြီးတိုင်းတွင် အသင်တို့၏တမန်တော်ကဲ့သို့ တမန်တော်၊ အသင်တို့၏အာဒမ်ကဲ့သို့ အာဒမ်၊ တမန်တော်နူဟ်ကဲ့သို့ နူဟ်၊ တမန်တော်အိဗ်ရာဟီမ်ကဲ့သို့ အိဗ်ရာဟီမ်၊ တမန်တော်အီစာကဲ့သို့ အီစာ၊ အသီးသီး ရှိသည်။ အိဗ်နုကဆီရ်။

အထက်ပါ သြဝါဒတော်ကို အိဗ်နုကဆီရ်ကျမ်းတွင် တွေ့ရှိရသကဲ့သို့ ဒုရ်ရိမန်ဆူရ်ကျမ်းတွင်လည်း တွေ့ရှိရပေသည်။ အထက်ပါ သြဝါဒတော်အနက်သဘောမှာ နက်နဲလှ၏။ လူတိုင်းသဘောပေါက်ရန် ခဲယဉ်းလှ၏။ အချို့ပညာရှင်များကမူ အထက်ပါသြဝါဒသည် မမှန်၊ မခိုင်လုံ၊ လုပ်ကြံထားသောစကားများသာဖြစ်သည်ဟုလည်း ဆိုကြ၏။ ကြည့်-ထာနဝီ။

(၈) ကုရ်အာန်ကျမ်းမြတ်တွင် မြေခုနစ်ထပ်ဟူ၍ အတိအလင်း မပါရှိသော်လည်း တမန်တော်မြတ်၏ သြဝါဒတော်များတွင် မိုးခုနစ်ထပ်ရှိသကဲ့သို့ မြေလည်း ခုနစ်ထပ်ရှိကြောင်း အတိအလင်း ပါရှိပေသည်။ ဗုခါရီ၊ မွတ်စ်လင်မ် စသည့် ကျမ်းများတွင်ပင် မြေခုနစ်ထပ်ရှိကြောင်း အောက်ပါအတိုင်း တွေ့ရှိရပေသည်။

အချုပ်ဆိုရသော် မိုးခုနစ်ထပ်ရှိသကဲ့သို့ မြေကြီးခုနစ်ထပ်၊ သို့မဟုတ် ခုနစ်ခုရှိသည်မှာ အမှန်ပင်၊ သို့ရာတွင် မြေကြီးခုနစ်ထပ်၊ သို့မဟုတ် မြေခုနစ်ခုသည် မည်သို့မည်ပုံ တည်ရှိနေသည်ကိုမူ ယနေ့ ထက်တိုင် အတိအကျ မသိရှိရသေးပေ။

① ဆိုလိုသည်ကား စကြာဝဠာအဝန်းကို စီမံကွပ်ကဲအုပ်ချုပ်တော်မူရန်အတွက် "အလ္လာဟ်အရှင်မြတ်၏ ဖန်ဆင်းမှု၊ တရားဥပဒေပြုမှုဆိုင်ရာဆိုင်ရာ အမိန့်တော်များသည်" မိုးများတွင်လည်းကောင်း၊ မြေများတွင်လည်းကောင်း၊ ဆင်းသက်လျက်ရှိပေသည်။ ယင်းသို့ အမိန့်တော်များကို ဆင်းသက်လျက်ရှိစေတော်မူခြင်းမှာ အလ္လာဟ်အရှင်မြတ်သည် မိမိ၏ကြီးမြတ်သော တန်ခိုးတော်ဖြင့် အရာခပ်သိမ်းကုန်တို့ကို ပြုစွမ်းတော်မူနိုင်ကြောင်း၊ ထိုအရှင်မြတ်သည် မိမိ၏မြင့်မြတ်သော ဉာဏ်တော်ဖြင့် အရာခပ်သိမ်းကုန်တို့ကို ဝန်းခြုံလျက်ရှိတော်မူကြောင်းကို လူသားတို့ တွေးဆဆင်ခြင် မြော်မြင်သိရှိကြရန်ပင်ဖြစ်သည်။ တစ်နည်းဆိုသော် အလ္လာဟ်အရှင်မြတ်၏ ကြီးကဲသောတန်ခိုးတော်နှင့်မြင့်မြတ်သော ဉာဏ်တော်ကို ထင်ရှားပြတော်မူရန်ပင်ဖြစ်သည်။

# တားမြစ်ခြင်းကဏ္ဍ

سُورَةُ التَّحْرِيمِ

ဤကဏ္ဍသည် 'တဟရီမ်' တားမြစ်ခြင်း ကဏ္ဍမည်၏။
မဒီနာမြို့တော်တွင် ကျရောက်ခဲ့၏။
ဤကဏ္ဍတွင် အာယတ်တော် (၁၂)ပါး၊ ရကူအ်အပိုဒ် (၂)ပိုဒ် အသီးသီးပါရှိ၏။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ ○

မပြတ်မစဲ သနားညှာတာတော်မူသော၊
မဟာကရုဏာတော်ရှင် ဖြစ်တော်မူသော
အလ္လာဟ်အရှင်မြတ်၏ နာမံတော်ဖြင့် အစပြုပါ၏။

يٰٓاَيُّهَا النَّبِيُّ لِمَ تُحَرِّمُ مَآ اَحَلَّ اللّٰهُ لَكَ ۚ تَبْتَغِيْ مَرْضَاتَ اَزْوَاجِكَ ۗ وَاللّٰهُ غَفُوْرٌ رَّحِيْمٌ ①

၁။ အို-နဗီတမန်တော်၊ အသင်သည် မိမိအဖို့ အလ္လာဟ်အရှင်မြတ်က (ဟလာလ်) ခွင့်ပြုတော်မူခဲ့သောအရာကို မည်သည့်အတွက်ကြောင့် အသင်၏ ကြင်ရာတော်များ၏နှစ်သက်မှုကို ရှာဖွေသောအားဖြင့် (ဟရမ်)ဟူ၍ *တားမြစ်သောအရာပြုလုပ်ပါသနည်း။* [၁] သို့တစေလည်း အလ္လာဟ်အရှင်မြတ်သည် အလွန်တရာ ခွင့်လွှတ်တော်မူသောအရှင်၊ အလွန်တရာ ကရုဏာပြုတော်မူသောအရှင်၊ ဖြစ်တော်မူ၏။

---

(၁) **အိမ်တော်တွင်း အိမ်တွင်းရေး။**

ကုရ်အာန်ကျမ်းမြတ် (၃၃း၂၈-၂၉)တွင် ရေးသားဖော်ပြခဲ့သည့်အတိုင်း အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်ဖြင့် မွတ်စ်လင်မ်များသည် စစ်ပွဲများတွင် စစ်ရေးသာလာခဲ့ကြ၏။ စားဝတ်နေရေးလည်း ချောင်လည်လာခဲ့ကြ၏။ ထိုအချိန်တွင်လည်း တမန်တော်မြတ်သည် မိမိ၏အာသာဆန္ဒအလျောက် စားဝတ်နေရေးတွင် အသုံးအစွဲကို ခြိုးခြံနိုင်သမျှ ခြိုးခြံ၍ပင် နေတော်မူခဲ့၏။ သို့ရာတွင် တမန်တော်မြတ်၏ ကြင်ရာတော်များသည် မွတ်စ်လင်မ်များ၏ စားဝတ်နေရေး ချောင်လည်မှုကို တွေ့မြင်ကြသောအခါ လူ့သဘာဝအလျောက်မိမိတို့လည်း စားဝတ်နေရေးတွင် ယခင်ကထက် အဆင်ပြေပြေ နေထိုင်လိုခဲ့ကြ၏။

ထိုအခါ ကြင်ရာတော်များသည် အချင်းချင်းညှိနှိုင်း၍ တမန်တော်မြတ်ထံတွင် ယခင်ကထက် စားနပ်ရိက္ခာနှင့် အသုံးစရိတ်များကို ပိုမိုပေးတော်မူရန် တောင်းဆိုခဲ့ကြ၏။ ယင်းသို့ကြင်ရာတော်များ စရိတ်ပိုမို တောင်းဆိုလာကြသည်ကို တမန်တော်မြတ်သည် နှစ်သက်တော်မမူခဲ့ပေ။ နောက်ဆုံးတွင် ကြင်ရာတော်များက 'ကျွန်မတို့သည် နောက်နောင် တမန်တော်မြတ်ထံ၌မရှိသည်ကို တောင်းဆိုကြတော့မည် မဟုတ်ပါ'ဟု တောင်းပန် ကတိပြုခဲ့ကြ၏။ သို့တစေလည်း အိမ်တွင်းရေးကား လုံးဝပြေလည်မသွားခဲ့ပေ။ ထို့အတွက် တမန်တော်မြတ်သည် တစ်လတိုင်တိုင် 'အီလာ' ပြုတော်မူခဲ့၏။ ကြင်ရာတော်များထံ သွားလာတော့မည်မဟုတ်ဟု ကျိန်ဆိုတော်မူ၍ ➤➤

➤➤ ကြင်ရာတော်များနှင့် တစ်လတိုင်တိုင် ခွဲခွာနေတော်မူခဲ့၏။

နောက်ဆုံးတွင် ကုရ်အာန်ကျမ်းမြတ် (၃၃း၂၈-၂၉)တွင် လာရှိသည့်အတိုင်း ကြင်ရာတော်များသည် ကြိုက်နှစ်သက်ရာ လမ်းတစ်သွယ်ကို ရွေးချယ်ရန် အမိန့်တော်ကျရောက်လာခဲ့သည်။ ထိုအခါကျမှ ကြင်ရာတော်များ၏ အသုံးစရိတ်ပိုမိုတောင်းဆိုမှု ပြဿနာသည် အဆုံးသတ်သွားခဲ့သည်။ ဤသည့်အတောအတွင်းမှာပင် အိမ်တော်တွင် အချို့ပြဿနာရပ်များ ပေါ်ပေါက်ခဲ့သေး၏။ ထိုဖြစ်ရပ်များကြောင့် တမန်တော်မြတ်သည် အတော်ပင် စိတ်ဒုက္ခဖြစ်တော်မူခဲ့ပေသည်။

အမှန်မှာ ကြင်ရာတော်များသည် တမန်တော်မြတ်အား အထူးပင် ချစ်ကြည်မြတ်နိုးခဲ့ကြ၏၊ မေတ္တာသက်ခဲ့ကြ၏။ ယင်းသည့် ချစ်ကြည်မြတ်နိုးမှု၊ မေတ္တာသက်မှုကြောင့်ပင် ကြင်ရာတော်များသည် လူ့သဘာဝအလျောက် မကြာခဏ အချင်းချင်း မကျေမနပ်ဖြစ်နေခဲ့ကြသည်။ ကြင်ရာတော်တိုင်းသည် တမန်တော်မြတ်ထံ အများဆုံးချဉ်းကပ်၍ နှစ်ဘဝ၏သုခချမ်းသာများကို ခံစားလို၏။ ဤသည့် အခြေအနေမျိုးတွင် လင်ယောကျ်ားတစ်ဦးအဖို့ တစ်ဖက်စောင်းနင်းမဖြစ်ရန်၊ မျှတစွာဆက်ဆံရန်၊ သည်းခံရန်နှင့် ပြေပြစ်စွာဆက်ဆံရန်မှာ မလွယ်ကူလှပေ၊ သို့တစေလည်း တမန်တော်မြတ်သည် အမြော်အမြင်ကြီးစွာဖြင့် သည်းခံတရားလက်ကိုင်ထားကာ ကြင်ရာတော်အားလုံးနှင့် မျှတပြေပြစ်စွာ ဆက်ဆံတော်မူနိုင်ခဲ့ပေသည်။

တမန်တော်မြတ်သည် 'အဆွရ်' ညနေ ဆွလာတ်အပြီးတွင် ကြင်ရာတော်အသီးသီးထံသို့ ခေတ္တကြွသွားတော်မူလေ့ရှိခဲ့၏။ တစ်နေ့သော် တမန်တော်မြတ်သည် ကြင်ရာတော်ဇိုင်နဗ်သခင်မထံ ကြွသွားရာတွင် အနည်းငယ်အချိန် ကြာသွားခဲ့သည်။ အကြောင်းသော်ကား ထိုနေ့တွင် ကြင်ရာတော် ဇိုင်နဗ်သည် တမန်တော်မြတ်အား ပျားရည်ဆက်သခဲ့၏။ တမန်တော်မြတ် ပျားရည်သောက်သုံးတော်မူရာတွင် အချိန်အနည်းငယ် ကြန့်ကြာသွားခြင်း ဖြစ်သည်။ ထို့နောက် ရက်အတန်ကြာသည်အထိ ကြင်ရာတော်ဇိုင်နဗ်ထံ ကြွသွားတော်မူ၍ ပျားရည်သောက်သုံးတော်မူသည့် အစဉ်အလာဖြစ်နေခဲ့၏။

ဤသည့်အကြောင်းကို သိရှိသောအခါ အာအိရှဟ်နှင့် ကြင်ရာတော်ဟဖ်ဆွဟ်တို့သည် အချင်းချင်း တိုင်ပင်၍ ကြင်ရာတော် ဇိုင်နဗ်ထံတွင် တမန်တော်မြတ် ပျားရည်သောက်သုံးတော်မမူရန် အကြံအစည်တစ်ခု ပြုလုပ်ခဲ့ကြ၏။ ထိုအခါ တမန်တော်မြတ်သည် ကြင်ရာတော် ဇိုင်နဗ်ထံတွင် ပျားရည်သောက်သုံးမှုကို စွန့်လွှတ်၍ ကြင်ရာတော် ဟဖ်ဆွဟ်အား 'ငါသည် ဇိုင်နဗ်ထံတွင် ပျားရည်သောက်သုံးလေ့ ရှိခဲ့သည်၊ ယခု ငါကျိန်ဆိုပြောမည်၊ ငါသည် ပျားရည်သောက်သုံးတော့မည်မဟုတ်' ဟု ပြောပြတော်မူခဲ့၏။ ထို့နောက် ဤအကြောင်းကို ကြင်ရာတော် ဇိုင်နဗ်သိရှိသွားပါက စိတ်မကောင်းဖြစ်မည် ဖြစ်သည့်အတွက် တမန်တော်မြတ်က ကြင်ရာတော် ဟဖ်ဆွဟ်အား ဤအကြောင်းမပေါက်ကြားရန် အမှတ်တရ မှာကြားတော်မူခဲ့၏။

သို့တစေလည်း ကြင်ရာတော် ဟဖ်ဆွဟ်သခင်မသည် အဆိုပါ အကြောင်းများနှင့် စပ်လျဉ်း၍ ကြင်ရာတော် အာအိရှဟ် သခင်မအား လျှို့ဝှက်စွာ အသိပေးလိုက်၏။ ထို့နောက် သူတစ်ပါးအား မပြောရန်လည်း မှာကြားလိုက်သေး၏။

အလ္လာဟ်အရှင်မြတ်သည် ဤသည့်အကြောင်းနှင့်စပ်လျဉ်း၍ တမန်တော်မြတ်အား အသိပေးတော်မူခဲ့၏။ တမန်တော်မြတ်သည် ကြင်ရာတော်ဟဖ်ဆွဟ်အားခေါ်၍ 'ဤအကြောင်း မပေါက်ကြားစေရန် အသင်မအား ငါအထပ်ထပ် မှာကြားပါလျက်၊ ယခုမူ အသင်မသည် ဤအကြောင်းကို အာအိရှဟ်အား အသိပေးသည်' ဟု ပြောပြတော်မူ၏။ ထိုအခါ ကြင်ရာတော်ဟဖ်ဆွဟ်သည် အံ့သြကြီးစွာဖြင့် 'တမန်တော်မြတ်၊ တမန်တော်မြတ်အား မည်သူပြောပြပါသနည်း' ဟု မေးလျှောက်ရာ တမန်တော်မြတ်က 'ငါ့အား အရာခပ်သိမ်းကုန်တို့ကို ➤➤

قَدْ فَرَضَ اللّٰهُ لَكُمْ تَحِلَّةَ أَيْمَانِكُمْ ۚ وَاللّٰهُ مَوْلٰكُمْ ۚ وَهُوَ الْعَلِيمُ الْحَكِيمُ ②

၂။ ဧကန်စင်စစ် အလ္လာဟ်အရှင်မြတ်သည် အသင်တို့အကျိုးငှာ အသင်တို့၏ ကျိန်ဆိုချက်များကို ဖြေနိုင်ရန် (နည်းလမ်း)သတ်မှတ်၍ ပေးတော်မူခဲ့၏။ စင်စစ်သော်ကား အလ္လာဟ်အရှင်မြတ်သည် အသင်တို့၏ ကိစ္စအဝဝကို ဆောင်ရွက်ပေးတော်မူသည့်ပြင် ထိုအရှင်မြတ်သည် ခပ်သိမ်းကုန်တို့ကို အကြွင်းမဲ့သိတော်မူသောအရှင်၊ အလွန်တရာနက်နဲသိမ်မွေ့သော ဆင်ခြင်တုံတရားနှင့် ပြည့်စုံတော်မူသောအရှင်၊ ဖြစ်တော်မူ၏။

وَإِذْ أَسَرَّ النَّبِيُّ إِلٰى بَعْضِ أَزْوَاجِهِ حَدِيثًا ۚ فَلَمَّا نَبَّأَتْ بِهِ وَأَظْهَرَهُ اللّٰهُ عَلَيْهِ عَرَّفَ بَعْضَهُ وَأَعْرَضَ عَنْ بَعْضٍ ۚ

၃။ ၎င်းပြင် (ပြန်လည်သတိရကြလေကုန်။) တစ်ရံရောအခါဝယ် နဗီတမန်တော်မြတ်သည် မိမိ၏ ကြင်ယာတော်တစ်ပါးအား စကားတစ်ခွန်းကို လျှို့ဝှက်စွာ ပြောခဲ့လေ၏။ ထို့နောက် ထိုကြင်ရာတော်က (အခြားကြင်ရာတော်အား) ယင်းစကားကို ပြောပြခဲ့လေ၏။ အလ္လာဟ်အရှင်မြတ်သည် ယင်းအကြောင်းကို နဗီတမန်တော်မြတ်အား အသိပေးတော်မူခဲ့၏။ ထိုအခါ ထိုနဗီတမန်တော်မြတ်သည် ယင်းစကားအချို့ကို သိစေခဲ့ပြီး အချို့ကိုမူ လျစ်လျူရှုထားခဲ့၏။

---

➤➤ အကြွင်းမဲ့သိတော်မူသော ကြားသိတော်မူသောအရှင်မြတ်က ပြောပြတော်မူသည်'ဟု ပြောပြတော်မူခဲ့လေသည်။ ဤအာယတ်တော်များသည် ဤသည့်ဖြစ်ရပ်များနှင့်စပ်လျဉ်း၍ ကျရောက်လာခဲ့ပေသည်။

(ဟလာလ်)အသုံးပြုခွင့်ရှိသောအရာကို (ဟရာမ်)အသုံးပြုခွင့်မရှိသောအရာ ပြုလုပ်ခြင်းကား အသို့ပါနည်း။ ဥပမာ (ဟလာလ်)အသုံးပြုခွင့်ရှိသော အရာတစ်ခုနှင့်စပ်လျဉ်း၍ မွတ်စ်လင်မ်တစ်ဦးသည် စိတ်တွင်းမှ (ဟလာလ်) အသုံးပြုခွင့်ရှိသော အရာဟူ၍ပင် ယုံကြည်လျက် မှန်ကန်ခိုင်လုံသော အကြောင်းအကျိုးတစ်ခုခုကြောင့် အဆိုပါ အသုံးပြုပိုင်ခွင့်ရှိသောအရာကို နောက်နောင် မိမိ အသုံးပြုမည်မဟုတ်ဟုဆို၏။ အသုံးမပြုဘဲလည်းနေ၏။

ဤသို့ ပြောဆိုပြုမူခြင်းမှာ ခိုင်လုံသောအကြောင်းအကျိုး ရှိပါက ရှရီအတ်တရားဥပဒေအရ ပြုပိုင်၏။ သာမန် မွတ်စ်လင်မ်တို့အဖို့ ပြုပိုင်ခွင့် ရှိလင့်ကစား၊ ကမ္ဘာအဝန်းအား စံပြအဖြစ် ရှေ့ဆောင် လမ်းညွှန်ပြတော်မူမည့် တမန်တော်မြတ်အဖို့မှာကား အချို့ကြင်ရာတော်များ၏ ကျေနပ်မှုရရှိရန်အတွက် အသုံးပြုပိုင်ခွင့်ရှိသော အရာတစ်ခုကို အသုံးမပြုဘဲနေတော်မူခြင်းသည် မလျော်ကန်ပေ။ ဤသည် နောက်တစ်ချိန်တွင် နောက်လိုက်တပည့်သားတို့အဖို့ အခက်အခဲ အကျပ်အတည်း လာ၍ဖြစ်ပေမည်။ ထို့အတွက်ကြောင့် အလ္လာဟ်အရှင်မြတ်က ဤအာယတ်တော်တွင် တမန်တော်မြတ်အား သတိပေး တော်မူခြင်းဖြစ်သည်။

فَلَمَّا نَبَّأَهَا بِهِ قَالَتْ مَنْ أَنْبَأَكَ هَٰذَا ۖ قَالَ نَبَّأَنِيَ الْعَلِيمُ الْخَبِيرُ ③

တစ်ဖန် ထိုနဗီတမန်တော်မြတ်သည် ထိုကြင်ရာတော်အား ယင်းစကားကို ပြောပြခဲ့သောအခါ ထိုကြင်ရာတော်က ဤသတင်းကို အသင့်အား မည်သူပြောပြသနည်းဟု ပြောဆို(မေးမြန်း)ခဲ့ရာ ထိုနဗီတမန်တော်မြတ်က ကျွန်ုပ်အား ခပ်သိမ်းကုန်တို့ကို အကြွင်းမဲ့သိရှိတော်မူသော၊ ခပ်သိမ်းကုန်တို့ကို အကြွင်းမဲ့ကြားသိတော်မူသော၊ အရှင်မြတ်က အသိပေးတော်မူခဲ့သည်ဟု ပြန်ကြားခဲ့လေသည်။ [၁]

إِنْ تَتُوبَا إِلَى اللَّهِ فَقَدْ صَغَتْ قُلُوبُكُمَا ۖ

၄။ အကယ်၍ အသင်(ကြင်ရာတော်)နှစ်ပါးတို့သည် အလ္လာဟ်အရှင်မြတ်အထံတော်၌ ဝန်ချတောင်းပန်ခဲ့ကြပါလျှင် (အသင်တို့အဖို့ ကောင်း၏၊ အဘယ်ကြောင့်ဆိုသော်) စင်စစ်မှာကား အသင်တို့နှစ်ဦး၏စိတ်နှလုံးမှာ *(တမန်တော်မြတ် မနှစ်မြို့သော အရာဘက်သို့) ယိမ်းညွတ်လျက် ရှိနေခဲ့၏။* [၂]

---

(၁) အထက်တွင် ရေးသားဖော်ပြခဲ့သည့်အတိုင်း တမန်တော်မြတ်သည် မိမိ၏စကားမပေါက်ကြားရန် ကြင်ရာတော် ဟဖ်ဆွဟ်အား အမှတ်တရ မှာထားတော်မူခဲ့၏။ ကြင်ရာတော် ဟဖ်ဆွဟ်သည် အဆိုပါစကားကို ကြင်ရာတော် အာအိရှဟ်အား လျှို့ဝှက်စွာ ပြောကြားခဲ့၏။ အလ္လာဟ်အရှင်မြတ်သည် ဤသည့်ဖြစ်ကြောင်းကုန်စင်ကို တမန်တော်မြတ်အား အသိပေးတော်မူခဲ့၏။

ထိုအခါ တမန်တော်မြတ်သည် လူ့သဘာဝအလျောက် ဒေါသအမျက်ထွက်ကာ၊ ကြင်ရာတော် ဟဖ်ဆွဟ်အား ကြိမ်းမောင်းတော်မူရန်သာရှိခဲ့၏။ သို့တစေလည်း တမန်တော်မြတ်သည် ယင်းသည့် အခြေအနေမျိုးတွင်ပင် အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်ဖြင့် မိမိသိရှိထားသည်များကို အားလုံးဖွင့်ဟ ပြောကြားတော်မမူဘဲ၊ အချို့အဝက်ကိုသာ ဖွင့်ဟပြောကြား၍ အချို့အဝက်ကိုမူ လျစ်လျူ ပြုတော်မူခဲ့ပေသည်။ တမန်တော်မြတ်၏ သဘောထားကြီးမှု၊ သည်းခံမှု၊ ယဉ်ကျေးသိမ်မွေ့မှု၊ လျစ်လျူပြုမှုကား အံ့ဖွယ်တပါးပင်တည်း။

(၂) ဤအာယတ်တော်တွင် "အသင်မတို့နှစ်ဦး" ဟူသည် ကြင်ရာတော် ဟဖ်ဆွဟ်နှင့် ကြင်ရာတော် အာအိရှဟ်ကို ဆိုလိုသည်။ အဆိုပါ ကြင်ရာတော်နှစ်ပါး၏ စိတ်နှလုံးများသည် အိမ်တွင်းရေးတွင် တည့်မတ်မှုတမှုမှ တိမ်းယိမ်းသွားခဲ့ကြပေသည်။ ထို့အတွက် အဆိုပါ ကြင်ရာတော်နှစ်ပါးအား မိမိတို့၏ မှားယွင်းမှုနှင့်စပ်လျဉ်း၍ အချိန်မီဝန်ချတောင်းပန်ရန် သတိပေးထားတော်မူခြင်းဖြစ်သည်။

ခင်ပွန်းသည်အား ချစ်ရပါသည်။ အချစ်သည် အပြစ်မဟုတ်၊ သို့ရာတွင် မိမိ၏အချစ်ကြောင့် သူတပါးအား မနှစ်ရာ၊သူတပါး၏ အခွင့်အရေးကို မဆုံးရှုံးစေရာ။

وَإِنْ تَظَٰهَرَا عَلَيْهِ فَإِنَّ اللَّهَ هُوَ مَوْلَىٰهُ وَجِبْرِيلُ وَصَٰلِحُ الْمُؤْمِنِينَ ۖ وَالْمَلَٰٓئِكَةُ بَعْدَ ذَٰلِكَ ظَهِيرٌ ④

သို့ရာတွင် အကယ်၍ အသင်တို့နှစ်ဦးသည် ထိုနဗီတမန်တော်မြတ်နှင့် ဆန့်ကျင်၍ အချင်းချင်း ရိုင်းပင်းကူညီလျက် ရှိကြပါလျှင် ဧကန်မလွဲ အလ္လာဟ် အရှင်မြတ်သည် တမန်တော်မြတ်အား ကာကွယ် စောင့်ရှောက်တော်မူမည့် အဆွေခင်ပွန်း ဖြစ်တော်မူသည်။ ထို့ပြင်တဝ ကောင်းကင်တမန် 'ဂျစ်ဗ်ရီလ်' သည်လည်းကောင်း၊ ထိုနဗီတမန်တော်မြတ်အား ကာကွယ်စောင့်ရှောက်သော အဆွေခင်ပွန်းများ ဖြစ်ကြကုန်၏။ ထိုမှတပါး ၎င်းတို့အပြင် 'မလာအိကဟ်' ကောင်းကင်တမန်တို့သည်လည်း ရိုင်းပင်းကူညီသူများပင် ဖြစ်ကြကုန်၏။ [၁]

عَسَىٰ رَبُّهُۥٓ إِنْ طَلَّقَكُنَّ أَنْ يُبْدِلَهُۥٓ أَزْوَٰجًا خَيْرًا مِنْكُنَّ مُسْلِمَٰتٍ مُؤْمِنَٰتٍ قَٰنِتَٰتٍ تَٰٓئِبَٰتٍ عَٰبِدَٰتٍ سَٰٓئِحَٰتٍ ثَيِّبَٰتٍ وَأَبْكَارًا ⑤

၅။ အကယ်၍ ထိုနဗီတမန်တော်မြတ်သည် အသင်တို့အား ကွာရှင်းခဲ့ပါလျှင် ထိုနဗီတမန်တော်မြတ်အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်သည် အသင်တို့အစား ထိုနဗီတမန်တော်မြတ်အား အသင်တို့ထက်ပိုမို၍ ထွတ်မြတ်သော 'မုစ်လင်မ်' မိန်းမများ၊ 'မုအ်မင်န်' သက်ဝင်ယုံကြည်သော မိန်းမများ၊ အမိန့်ကိုနာခံသော မိန်းမများ၊ ဝန်ချတောင်းပန်ကြသောမိန်းမများ၊ ဝတ်ပြုသောမိန်းမများ၊ ဥပုသ်သီလ ဆောက်တည်သောမိန်းမများ၊ အအိုများနှင့် အပျိုများကို ပေးတော်မူအံ့သတည်း။ [၂]

---

(၁) ဇနီးမောင်နှံ၏ အိမ်တွင်းရေးပြဿနာများသည် အစပထမတွင် သာမန်ဟူ၍ပင် ထင်မှတ်ရ၏။ အိမ်တွင်းရေး အသေးအဖွဲ ပြဿနာများကို အချိန်မီ ဖြေရှင်းမပစ်ဘဲ လျစ်လျူပြုထားမိပါက အလွန်ဆိုးရွားသော ပြဿနာများ ပေါ်ပေါက်နိုင်ပေသည်။ အထူးသဖြင့် ဇနီးသည်ဖြစ်သူများသည် ဆွေကြီးမျိုးကြီး၊ မျက်နှာကြီးများဖြစ်ပါမူ ဆွေဂုဏ်၊ မျိုးဂုဏ်မောက်ကာ မာန်မာန ထောင်လွှားတတ်ကြ၏။

အကြောင်းအားလျော်စွာ ကြင်ရာတော် ဟဖ်ဆွဟ်နှင့် ကြင်ရာတော် အာအိရှဟ်သည် ဆွေကြီး၊ မျိုးကြီး မျက်နှာကြီးများထဲမှ ဖြစ်ခဲ့ကြ၏။

ထို့အတွက်ကြောင့် အဆိုပါ ကြင်ရာတော်နှစ်ပါးအား "အကယ်၍ အသင်မတို့ နှစ်ဦးသည် ➤➤

يَٰٓأَيُّهَا ٱلَّذِينَ ءَامَنُواْ قُوٓاْ أَنفُسَكُمۡ وَأَهۡلِيكُمۡ نَارٗا وَقُودُهَا ٱلنَّاسُ وَٱلۡحِجَارَةُ عَلَيۡهَا مَلَٰٓئِكَةٌ غِلَاظٞ شِدَادٞ لَّا يَعۡصُونَ ٱللَّهَ مَآ أَمَرَهُمۡ وَيَفۡعَلُونَ مَا يُؤۡمَرُونَ ٦

၆။ အို-'မုအ်မင်န်' သက်ဝင်ယုံကြည်သူအပေါင်းတို့၊ အသင်တို့သည် *မိမိတို့ကိုယ်များကိုလည်းကောင်း၊ မိမိတို့၏အိမ်သူအိမ်သားတို့ကိုလည်းကောင်း၊ (ငရဲ)မီး(ဘေး)မှ ကင်းလွတ်စေကြလေကုန်။* [၁] ယင်း(ငရဲ)မီး၏ လောင်စာများမှာ လူများနှင့် ကျောက်တုံးများ ဖြစ်ကြ၏။ ယင်း(ငရဲ)မီး၌ ညှာတာမှုကင်းမဲ့၊ စိတ်ဓာတ်ခက်ထန်ကြမ်းတမ်းသော၊ လွန်စွာပြင်းထန် ကြံ့ခိုင်သော "မလာအိကဟ်" ကောင်းကင်တမန်များသည် (စောင့်ကြပ်လျက်) ရှိကြကုန်၏။ ထို "မလာအိကဟ်" ကောင်းကင်တမန်တို့မှာ အလ္လာဟ်အရှင်မြတ်အား ထိုအရှင်မြတ်က ၎င်းတို့ကိုပေးတော်မူသော အမိန့်တော်နှင့်စပ်လျဉ်း၍ ဖီဆန်ကြသည် မရှိသည့်အပြင် မိမိတို့ အမိန့်ပေးတော်မူခြင်း ခံကြရသည်ကို (မဆိုင်းမတွ) ပြုလုပ် ဆောင်ရွက်လေ့ရှိကြကုန်၏။

---

➤➤ ဆွေဂုဏ်မျိုးဂုဏ်မောက်ကာ အချင်းချင်းရိုင်းပင်း၍ တမန်တော်မြတ်အား ဆက်လက် ဆန့်ကျင်နေကြမည်ဆိုပါက အလ္လာဟ်အရှင်မြတ်နှင့်တကွ ကောင်းကင်တမန် ဂျိဗ်ရီလ်၊ မုအ်မင်န် သူတော်စင်များ၊ ကောင်းကင်တမန်များသည် တမန်တော်မြတ်အား ကာကွယ်စောင့်ရှောက်ကြရန် အသင့်ရှိကြသည်ကို သတိပြုကြရာသည်"ဟု သတိပေးထားတော်မူခြင်း ဖြစ်ပေသည်။

(၂) ဆိုလိုသည်ကား ကြင်ရာတော်များ၏ စိတ်နှလုံးများတွင် တမန်တော်မြတ်သည် မလွဲမရှောင်သာ ကြင်ရာတော်များ ထားတော်မူရမည်သာ ဖြစ်သည်။"ငါတို့ထက်သာသော အမျိုးသမီးမရှိ။ သို့ဖြစ်ရာ တမန်တော်မြတ်သည် ငါတို့၏စကားကို မလွဲမရှောင်သာ လိုက်လျောတော်မူရမည်သာဖြစ်သည်"ဟူ၍ကား မေ့မှား၍မျှ အတွေးအထင် မပေါ်စေရာ၊ အမှန်စင်စစ် တမန်တော်မြတ်သည် လက်ရှိ ကြင်ရာတော်များကို စွန့်လွှတ်ကွာရှင်းတော်မူပါက အလ္လာဟ်အရှင်မြတ်သည် တမန်တော်မြတ်အား လက်ရှိကြင်ရာတော်များထက် သာသောကြင်ရာတော်များကို ဖန်ဆင်းပေးတော်မူနိုင်ပေသည်။ အလ္လာဟ်အရှင်မြတ်ထံတော်၌ အခက်အခဲဟူ၍ အလျင်းမရှိပေ။ သို့ဖြစ်ရာ ကြင်ရာတော်များသည် မိမိတို့ကိုယ်ကိုမိမိတို့ အထင်မကြီးကြရာဟု ထပ်မံ သတိပေးထားတော်မူခြင်း ဖြစ်သည်။

(၃) ဆိုလိုသည်ကား မွတ်စ်လင်မ်တိုင်းသည် မိမိတို့ကိုယ်ကိုလည်း တရားကိုဆောင်ကြရမည်။ မိမိတို့နှင့်အတူတကွ မိမိတို့၏ အိမ်သူအိမ်သား၊ သားမယားတို့ကိုလည်း နားချ၍တစ်မျိုး၊ ခြောက်လှန့်၍တစ်ဖုံ၊ ချော့၍တစ်မျိုး၊ ရိုက်၍တစ်သွယ်၊ အစွမ်းရှိသမျှ သွန်သင်ဆုံးမ တရားပြကြရမည်။ ငရဲမီးဘေးမှ မိမိတို့ကိုယ်များကို ကာကွယ်ကြသကဲ့သို့ မိမိတို့၏ အိမ်သူအိမ်သား၊ သားမယားတို့အားလည်း ကာကွယ်ကြရပေမည်။ ဤသည် မွတ်စ်လင်မ်တိုင်း၏တာဝန်ပင်။ ဤအာယတ်တော်၌ "အဟ်လီကွမ်"ဟူသော စကားတွင် အိမ်သူအိမ်သား သားမယား တပည့်သား နောက်လိုက်ယ်သား၊ မိမိနှင့်ဆက်သွယ်လျက်ရှိသော အပေါင်းအသင်းအားလုံး အကျုံးဝင်ပေသည်။

يَٰٓأَيُّهَا ٱلَّذِينَ كَفَرُوا۟ لَا تَعْتَذِرُوا۟ ٱلْيَوْمَ ۖ إِنَّمَا تُجْزَوْنَ مَا كُنتُمْ تَعْمَلُونَ ٧

၇။ အို–"ကာဖိရ်" သွေဖည်ငြင်းပယ်သူအပေါင်းတို့၊ ယနေ့ အသင်တို့သည် (မည်သို့မျှ) အကြောင်းမပြကြကုန်လင့်။ အသင်တို့သည် မိမိတို့ ကျင့်မူနေခဲ့ကြသော (အမှုကိစ္စ)နှင့် စပ်လျဉ်း၍သာ အစားပေးခြင်းကို ခံနေကြရခြင်း ဖြစ်သည်။

يَٰٓأَيُّهَا ٱلَّذِينَ ءَامَنُوا۟ تُوبُوٓا۟ إِلَى ٱللَّهِ تَوْبَةً نَّصُوحًا عَسَىٰ رَبُّكُمْ أَن يُكَفِّرَ عَنكُمْ سَيِّـَٔاتِكُمْ وَيُدْخِلَكُمْ جَنَّٰتٍ تَجْرِى مِن تَحْتِهَا ٱلْأَنْهَٰرُ يَوْمَ لَا يُخْزِى ٱللَّهُ ٱلنَّبِىَّ وَٱلَّذِينَ ءَامَنُوا۟ مَعَهُۥ ۖ نُورُهُمْ يَسْعَىٰ بَيْنَ أَيْدِيهِمْ وَبِأَيْمَٰنِهِمْ يَقُولُونَ رَبَّنَآ أَتْمِمْ لَنَا نُورَنَا وَٱغْفِرْ لَنَآ ۖ إِنَّكَ عَلَىٰ كُلِّ شَىْءٍ قَدِيرٌ ٨

၈။ အို–"မုအ်မင်န်" သက်ဝင်ယုံကြည်သူအပေါင်းတို့၊ အသင်တို့သည် အလ္လာဟ်အရှင်မြတ်အထံတော်၌ စစ်မှန်သော ဝန်ချ တောင်းပန်ခြင်းမျိုးဖြင့် ဝန်ချတောင်းပန်ကြလေကုန်။ (သို့ပြုလုပ်ခြင်းအားဖြင့်) အသင်တို့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်သည် အသင်တို့၏ပြစ်မှုဒုစရိုက်များကို အသင်တို့မှ ပပျောက်စေတော်မူမည့်ပြင် အသင်တို့အား အကြင်ဥယျာဉ်များသို့ ဝင်ရောက်စေတော်မူတန်ရာ၏။

ယင်းဥယျာဉ်များ၏အောက်မှ ချောင်းများသည် စီးတွေလျက် ရှိကြပေမည်။ အကြင်နေ့ကို (သတိရရှိကြလေကုန်၊) ထိုနေ့တွင် အလ္လာဟ်အရှင်မြတ်သည် နဗီတမန်တော်မြတ်အားလည်းကောင်း၊ ထိုနဗီတမန်တော်မြတ်နှင့်အတူ သက်ဝင် ယုံကြည်ခဲ့ကြသောသူတို့အားလည်းကောင်း၊ *ကျိုးယုတ်ရှက်ရ ဖြစ်စေတော်မူမည်မဟုတ်ပေ။*[၁] *၎င်းတို့၏ အလင်းရောင်မှာ ၎င်းတို့၏ရှေ့၌လည်းကောင်း၊ လယ်ယာဘက်များ၌လည်းကောင်း၊ ပြေးလျက် ရှိပေမည်။*[၂]

---

(၁) ဆိုလိုသည်ကား ကိယာမတ်နေ့တွင် အလ္လာဟ်အရှင်မြတ်သည် တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)အား မဆိုထားနှင့်၊ တမန်တော်မြတ်၏ နောက်လိုက်တပည့်သားများကိုပင် ကျိုးယုတ်ရှက်ရ ဖြစ်စေတော်မူမည်မဟုတ်၊ သိက္ခာရှိစွာဖြင့် အလွန်မြင့်မြတ်သော ဂုဏ်အင်ဒြပ်များကိုပင် ချီးမြှင့်တော်မူပေမည်။

သစ္စာရှိသူနှင့် သစ္စာမရှိသူ၊ အမိန့်တော်နာခံသူနှင့် အမိန့်တော် မနာခံသူ၊ မွတ်စ်လင်မ်နှင့် ကာဖိရ်၏ အကျိုးဆက်ကား အသို့လျှင် တူနိုင်အံ့နည်း။

၎င်းတို့မှာ (ဤသို့) လျှောက်ထားပန်ကြား လျက်ရှိကြမည်။ အို-ကျွန်တော်မျိုးတို့အား ဖန်ဆင်း မွေးမြူတော်မူသော အရှင်မြတ်၊ အရှင်မြတ်သည် ကျွန်တော်မျိုးတို့အဖို့ ကျွန်တော်မျိုးတို့၏အလင်းရောင် ကို အဆုံးတိုင်အောင် ထားရှိတော်မူပါ။ ထိုမှတပါး အရှင်မြတ်သည် ကျွန်တော်မျိုးတို့အား ခွင့်လွှတ်တော် မူပါ၊ ဧကန်မလွဲ အရှင်မြတ်သည် အရာခပ်သိမ်းကို တတ်စွမ်းနိုင်တော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူပါ သတည်း။

يَٰٓأَيُّهَا ٱلنَّبِىُّ جَٰهِدِ ٱلْكُفَّارَ وَٱلْمُنَٰفِقِينَ وَٱغْلُظْ عَلَيْهِمْ ۚ وَمَأْوَىٰهُمْ جَهَنَّمُ ۖ وَبِئْسَ ٱلْمَصِيرُ ﴿٩﴾

၉။ အို-နဗီတမန်တော်၊ အသင်သည် "ကာဖိရ်" သွေဖည်ငြင်းပယ်ကြကုန်သောသူတို့အားလည်းကောင်း၊ "မုနာဖစ်က်" အယောင်ဆောင်မုစ်လင်မ်တို့အားလည်း ကောင်း၊ *သက်စွန့်ကြိုးပမ်း တိုက်ခိုက်ပါလေ၊ ထို့ပြင် အသင်သည် ၎င်းတို့အပေါ်၌ကျပ်တည်းစေပါလေ။* [၁] ထို့ပြင် ၎င်းတို့၏ခိုလှုံရာဌာနမှာ "ဂျဟန္နမ်" ငရဲသာလျှင် ဖြစ်၏။ စင်စစ်မှာကား (ယင်း "ဂျဟန္နမ်"ငရဲမှာ) လွန်စွာ ဆိုးရွားလှသောစခန်းပင် ဖြစ်ချေသည်။

---

(၂) ကိယာမတ်နေ့တွင် မွတ်စ်လင်မ်များ၏ အလင်းရောင်သည် ၎င်းတို့ရှေ့တွင် ပြေးလျက်ရှိပေမည်။ အဆိုပါ အလင်းရောင်သည် (အီမာန်) ယုံကြည်မှု (အီမလ်) အကျင့်သီလနှင့်အမျှ လင်းဝင်း တောက်ပလျက်ရှိပေမည်။

ဤအကြောင်း ကုရ်အာန် (၅၇း၁၂-၁၅)တွင် ပါရှိသည်။ သက်ဆိုင်ရာအဖွင့်များကိုလည်း အကျယ် ရေးသားခဲ့ပေပြီ။

(၁) အလ္လာဟ်အရှင်မြတ်သည် အခြားသူများအား သည်းခံရန် မိန့်ကြားတော်မူ၏။ သို့ရာတွင် တမန်တော်မြတ် သည် အဘယ်မျှ သည်းခံတော်မူသည်၊ နူးညံ့ သိမ်မွေ့တော်မူသည်ဆိုသော်၊ အလ္လာဟ်အရှင်မြတ်ကပင် တမန်တော်မြတ်အား ကာဖိရ်များ၊ မုနာဖစ်က်များနှင့် ဆက်ဆံရာတွင် ပြင်းထန်ပြတ်သားစွာ ဆက်ဆံပါဟူ၍ပင် အမိန့်ပေးတော်မူသည်။ တမန်တော်မြတ်၏ သည်းခံမှု၊ နူးညံ့ သိမ်မွေ့မှုကား အံ့ဖွယ်တစ်ပါးပင်။

ဤအာယတ်တော်နှင့်ဆက်စပ်၍ ကုရ်အာန်ကျမ်းလာ အာယတ်တော် (၃း၁၅၈) ကိုဆင်ခြင်ပါကုန်။

ضَرَبَ اللّٰهُ مَثَلًا لِّلَّذِيْنَ كَفَرُوا امْرَاَتَ نُوْحٍ وَّ امْرَاَتَ لُوْطٍ ۭ كَانَتَا تَحْتَ عَبْدَيْنِ مِنْ عِبَادِنَا صَالِحَيْنِ فَخَانَتٰهُمَا فَلَمْ يُغْنِيَا عَنْهُمَا مِنَ اللّٰهِ شَيْـًٔا وَّقِيْلَ ادْخُلَا النَّارَ مَعَ الدّٰخِلِيْنَ ⑩

**၁၀။** အလ္လာဟ်အရှင်မြတ်သည် "ကာဖိရ်" သွေဖည်ငြင်းပယ်ကြကုန်သူတို့၏အကျိုးငှာ (နဗီတမန်တော်) နူဟ်၏ ဇနီးကြင်ရာကိုလည်းကောင်း၊ (နဗီတမန်တော်) "လူတွ်"၏ ဇနီးကြင်ရာကိုလည်းကောင်း၊ ဥပမာအဖြစ် ခိုင်းနှိုင်း မိန့်ကြားတော်မူ၏။ ထိုဇနီးကြင်ရာနှစ်ဦးကား ငါအရှင်မြတ်၏ကျွန်အနက် သူတော်စင်ကျွန်နှစ်ပါး၏ (ထိမ်းမြားမှု)အောက်တွင် ရှိခဲ့ကြလေ၏။

သို့တစေလည်း ထိုဇနီးကြင်ရာ နှစ်ဦးသည် ထိုကျွန်နှစ်ပါးနှင့်ပတ်သက်၍ (ဒီန်သာသနာရေးတွင်) သစ္စာ သွေလှန်ခဲ့ကြပေရာ ထိုကျွန်တော်နှစ်ပါးမှာ အလ္လာဟ်အရှင်မြတ်နှင့် ယှဉ်ပြိုင်၍ ထိုကြင်ရာနှစ်ဦး အဖို့ အနည်းငယ်စိုးစဉ်းမျှပင် အကျိုးမပြုနိုင်ခဲ့ကြပေ။ ထို့ပြင် "အသင်တို့နှစ်ဦးသည်လည်း (အခြားသော) ဝင်ရောက်ကြသူတို့နှင့်အတူ (ငရဲ)မီးထဲသို့ ဝင်ရောက်ကြကုန်လော့"ဟု အမိန့်ပေးတော်မူခြင်းကို ခံခဲ့ကြရလေသတည်း။ [၁]

وَضَرَبَ اللّٰهُ مَثَلًا لِّلَّذِيْنَ اٰمَنُوا امْرَاَتَ فِرْعَوْنَ

**၁၁။** ထိုနည်းတူစွာ အလ္လာဟ်အရှင်မြတ်သည် "မုအ်မင်န်" သက်ဝင်ယုံကြည်ကြကုန်သောသူတို့၏ အကျိုးငှာ 'ဖစ်ရ်အောင်န်' ၏ဇနီးကြင်ရာကို ဥပမာအဖြစ် ခိုင်းနှိုင်း မိန့်ကြားတော်မူခဲ့၏။ တစ်ရံရောအခါဝယ် ထို 'ဖစ်ရ်အောင်န်'၏ ဇနီးကြင်ရာသည် (ဤသို့) လျှောက်ထား ပန်ကြားခဲ့လေ၏။

---

(၁) <u>မယားဆိုးကို လင်ကောင်းမကယ်နိုင်။</u>

တမန်တော်နူဟ်နှင့် တမန်တော်လူတွ်သည် အလ္လာဟ်အရှင်မြတ်၏ တမန်တော်များဖြစ်ခဲ့ကြသည်၊ သူတော်စင်များ ဖြစ်ခဲ့ကြသည်။ သို့ရာတွင် အကြောင်းအားလျော်စွာ ထိုတမန်တော်ကြီးနှစ်ပါး၏ ကြင်ရာများမှာ မုနာဖစ်က်များ ဖြစ်နေခဲ့ကြပေသည်။ အမြင်အားဖြင့် အဆိုပါကြင်ရာနှစ်ပါးသည် တမန်တော်ကြီးနှစ်ပါး၏ ကြင်ရာများ ဖြစ်နေခဲ့ကြသော်လည်း အမှန်မှာ ယင်းကြင်ရာနှစ်ဦးတို့သည် မိမိတို့၏ ခင်ပွန်းများအား သာသနာရေးတွင် သစ္စာဖောက်ခဲ့ကြသည်။ ➢➢

إِذْ قَالَتْ رَبِّ ابْنِ لِي عِندَكَ بَيْتًا فِي الْجَنَّةِ وَنَجِّنِي مِن فِرْعَوْنَ وَعَمَلِهِ وَنَجِّنِي مِنَ الْقَوْمِ الظَّالِمِينَ ⑪

အို-ကျွန်တော်မျိုးမအား ဖန်ဆင်းမွေးမြူတော်မူသောအရှင်၊ အရှင်မြတ်သည် မိမိထံတော်ပါး၌ 'ဂျန္နတ်'သုခဘုံတွင် ကျွန်တော်မျိုးမအဖို့ နေအိမ်တစ်လုံးကို ပြုလုပ်၍ ပေးသနားတော်မူပါ။ ၎င်းပြင် အရှင်မြတ်သည် ကျွန်တော်မျိုးမအား 'ဖစ်ရ်အောင်န်' နှင့် ၎င်း၏ အကျင့်အမူတို့မှ လွတ်မြောက်စေတော်မူပါ။ ထိုမှတစ်ပါး အရှင်မြတ်သည် ကျွန်တော်မျိုးမအား မတရားသော အမျိုးသားတို့မှလည်း လွတ်မြောက်စေတော်မူပါ။ [၁]

وَمَرْيَمَ ابْنَتَ عِمْرَانَ الَّتِي أَحْصَنَتْ فَرْجَهَا فَنَفَخْنَا فِيهِ مِن رُّوحِنَا

၁၂။ ထိုနည်းတူစွာ (အလ္လာဟ်အရှင်မြတ်သည်) 'အီမ်ရာန်' ၏သမီး၊ အကြင် 'မရ်ယမ်' အား (ဥပမာအဖြစ် ခိုင်းနှိုင်းမိန့်ကြားတော်မူခဲ့၏၊) ထို 'မရ်ယမ်' သည် မိမိအသရေကို စောင့်စည်းထိန်းသိမ်းခဲ့လေရာ ငါအရှင်မြတ်သည် ၎င်း၏အင်္ကျီရင်ကွဲ (ရင်ဖုံး)ဝယ် မိမိအထံတော်မှ အသက်ဇီဝိန်ကို နှုတ်တော်မူခဲ့လေ၏။

---

➤➤ ကာဖိရ်များ၊ မုနာဖစ်က်များ ဖြစ်နေခဲ့ကြသည်။ အတွင်းမှ ကာဖိရ်များနှင့် ဆက်သွယ်နေခဲ့ကြသည်။ နောက်ဆုံးတွင် ယင်းကြင်ရာနှစ်ဦးတို့သည် တမန်တော်ကြီးနှစ်ပါး၏ ကြင်ရာများ ဖြစ်ခဲ့ကြလင့်ကစား မိမိတို့ကိုယ်တိုင်က မုနာဖစ်က်များဖြစ်နေခဲ့ ကြသည့်အတွက် ငရဲသို့လားခဲ့ကြရသည်။ တမန်တော်ကြီးနှစ်ပါးသည် မိမိတို့၏ ကြင်ရာများအား မည်သို့မျှ မကာကွယ်နိုင်ခဲ့ကြပေ။

**(၁) လင်ဆိုးကို မယားကောင်း မကယ်နိုင်။**

အထက်တွင် မယားဆိုးကို လင်ကောင်း မကယ်နိုင်သည့်အကြောင်းပါရှိ၏။ ဤတွင် ဆန့်ကျင်ဘက်ဖြစ်ရပ်တစ်ခုကို မိန့်ဆိုထားတော်မူသည်။ ဖစ်ရ် အောင်န်သည် ကာဖိရ်ဖြစ်ခဲ့သည်။ အလ္လာဟ်အရှင်မြတ်အားတော်လှန်ပုန်ကန်ခဲ့သည်။

သို့ရာတွင် ဖစ်ရ်အောင်န်၏ကြင်ရာ အာစီယဟ်သခင်မမှာမူ အလ္လာဟ်အရှင်မြတ်အား ရိုးသားဖြောင့်မတ်စွာ ယုံကြည်မြတ်နိုးခဲ့သည်။ အကျင့်သီလကောင်းမြတ်ခဲ့သည်။ သူတော်စင်မတစ်ဦး ဖြစ်ခဲ့သည်။ သို့တစေလည်း ကြင်ရာတော် အာစီယဟ်သခင်မသည် မိမိ၏ခင်ပွန်းသည်အား အသို့မျှ မကယ်နိုင်ခဲ့ပေ။ ခင်ပွန်း၏ သွေဖည်မှု၊ တော်လှန်ပုန်ကန်မှုကြောင့် အသို့မျှ အရေးယူတော်မူခြင်းကိုလည်း မခံခဲ့ရပေ။

ဆိုလိုသည်ကား လင်သည် မယားကိုမကယ်နိုင်၊ မယားသည် လင်ကိုမကယ်နိုင်။ မိမိ၏မှန်ကန်သော (အီမာန်) ယုံကြည်မှုနှင့် ကောင်းမြတ်သော (အမလ်) အကျင့်သီလသည်သာလျှင် မိမိအား ကယ်တင်မည်ဖြစ်သည်။

وَصَدَّقَتْ بِكَلِمٰتِ رَبِّهَا وَكُتُبِهٖ وَكَانَتْ مِنَ الْقٰنِتِيْنَ ⑫

ထို့ပြင် ထို 'မရ်ယမ်' သည် မိမိအား ဖန်ဆင်း မွေးမြူတော်မူသော အရှင်မြတ်၏ မိန့်ကြားချက်များ ကိုလည်းကောင်း၊ ထိုအရှင်မြတ်၏ ကျမ်းဂန်တရား တော်တို့ကိုလည်းကောင်း၊ ယုံကြည်ထောက်ခံခဲ့သည့် ပြင် အမှန်စင်စစ် ထို'မရ်ယမ်'မှာ အမိန့်တော်ကို နာခံကြ ကုန်သောသူတို့တွင် အပါအဝင်ဖြစ်ခဲ့ပေသတည်း။ [၁]

---

၁ **ပျိုကညာလည်း သူတော်ကောင်းဖြစ်နိုင်သည်။**

အိမ်ရာမ်၏သမီး မရ်ယမ်သခင်မသည် ပျိုကညာတစ်ပါးဖြစ်ခဲ့သည်၊ အိမ်ထောင်မပြုခဲ့ပေ၊ မရ်ယမ် သခင်မ၌ လင်ယောကျ်ားမရှိခဲ့ပေ။ သို့ပါသော်လည်း အလ္လာဟ်အရှင်မြတ်၏ကျေးဇူးတော်ဖြင့် မိမိ၏ကာယိန္ဒြေကို ကောင်းစွာ စောင့်စည်းထိန်းသိမ်းခဲ့သည်။

အလ္လာဟ်အရှင်မြတ်၏ အာယတ်တော်များနှင့်ကျမ်းဂန်လာ တရားတော်များကို ထောက်ခံယုံကြည် မြတ်နိုးခဲ့သည်။ အလ္လာဟ်အရှင်မြတ်အား ကြည်ဖြူစွာ ဆည်းကပ်ကိုးကွယ်ခဲ့သည်။ သူတော်စင်များတွင် အထင်အရှား အပါအဝင်ဖြစ်ခဲ့သည်။

ဆိုလိုသည်ကား ပျိုကညာတစ်ဦးပင် ဖြစ်လင့်ကစား 'အီမာန်နှင့်အမလ်' ကောင်းက သူတော်ကောင်း ဖြစ်နိုင်ပေသည်။

မရ်ယမ်သခင်မ၌ လင်ယောကျ်ားမရှိဘဲလျက် အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်ဖြင့် သားတော် (တမန်တော်အီစာ) ဖွားမြင်တော်မူခဲ့သည့်အကြောင်း ကုရ်အာန် (၃း၅၈။ ၁၉း၁၆။ ၂၂း၂၁-၉၁) တွင် ပါရှိခဲ့ချေပြီ။

# စိုးမိုးခြင်းကဏ္ဍ

## سُورَةُ الْمُلْكِ

ဤကဏ္ဍသည် "မုလ်က်" စိုးမိုးခြင်း ကဏ္ဍမည်၏။ မက္ကာမြို့တော်၌ ကျရောက်ခဲ့၏။
ဤကဏ္ဍတွင် အာယတ်တော်(၃၀)ပါး၊ ရုကူအ်(၂)ပိုဒ်၊ အသီးသီးပါရှိ၏။

بِسْمِ اللَّهِ الرَّحْمَٰنِ الرَّحِيمِ

ကရုဏာတော်ရှင်ဖြစ်တော်မူသော၊ အလွန်တရာ ကြင်နာသနားတော်မူသော၊ အလ္လာဟ်အရှင်မြတ်၏နာမံတော်ဖြင့် အစပြုပါ၏။

تَبَارَكَ الَّذِي بِيَدِهِ الْمُلْكُ وَهُوَ عَلَىٰ كُلِّ شَيْءٍ قَدِيرٌ ①

၁။ အကြင်အရှင်မြတ်သည် မင်္ဂလာအပေါင်းနှင့် ပြည့်စုံ မြင့်မြတ်လှတော်မူ၏။ ထိုအရှင်မြတ်၏ လက်တော်တွင်းဝယ် အုပ်ချုပ်မှုသည်ရှိသည်။[၁] ထို့မှတစ်ပါး ထိုအရှင်မြတ်သည် အရာခပ်သိမ်းတို့ကို တတ်စွမ်းနိုင်တော်မူသောအရှင်မြတ်ပင် ဖြစ်တော်မူ၏။

الَّذِي خَلَقَ الْمَوْتَ وَالْحَيَاةَ لِيَبْلُوَكُمْ أَيُّكُمْ أَحْسَنُ عَمَلًا ۚ وَهُوَ الْعَزِيزُ الْغَفُورُ ②

၂။ အကြင် အရှင်မြတ်သည် အသင်တို့အား အသင်တို့အနက် မည်သူသည် အကျင့်အမူအားဖြင့် အကောင်းဆုံးဖြစ်သည်ကို စမ်းသပ်တော်မူအံ့သောငှာ "မရဏ" သေခြင်းတရားကိုလည်းကောင်း၊ အသက်ရှင်ခြင်းကိုလည်းကောင်း၊ ဖန်ဆင်းတော်မူခဲ့၏။[၂] ထို့မှတစ်ပါး ထိုအရှင်မြတ်သည် အလွန်တရာ ခန့်ညားတော်မူသောအရှင်၊ အလွန်တရာ ခွင့်လွှတ်တော်မူသောအရှင်၊ ဖြစ်တော်မူ၏။

---

(၁) စိုးမိုးအုပ်ချုပ်မှု အစုစုတို့သည် အလ္လာဟ်အရှင်မြတ်၏ လက်တော်တွင်း၌သာ ရှိ၏။ စကြာဝဠာအဝန်းသည် ထိုအရှင်မြတ်၏ စိုးမိုးအုပ်ချုပ်မှုအောက်တွင်ပင် ရပ်တည်လျက်ရှိ၏။

(၂) သေခြင်းရှင်ခြင်း တရားနှစ်ပါးကိုလည်း အလ္လာဟ်အရှင်မြတ်သည်ပင် စီရင်ဖန်တီးထားတော်မူ၏။ သို့စီရင်ဖန်တီးထားတော်မူခြင်းမှာ အကြောင်းမဲ့မဟုတ်၊ လူသားတို့၏အကျင့်သီလကို စမ်းသပ်တော်မူရန်ပင်ဖြစ်၏။ လူသားတို့သည် အသက်ရှင်စဉ် ဆည်းပူးခဲ့ကြသည့် ကောင်းမှု၊ မကောင်းမှု၏ကျိုးပြစ်ကို သေပြီးနောက် အတိအကျခံ၊ စံကြရမည်ဖြစ်၏။ ဤအကြောင်း ကုရ်အာန်ကျမ်းမြတ်တွင် အကြိမ်ကြိမ်ပါရှိခဲ့ပေပြီ။
ကြည့်-ကုရ်အာန်(၂း၂၈)။

၃။ အကြင်အရှင်မြတ်သည် မိုးကောင်းကင် ခုနစ်ထပ်ကို အထပ်ထပ် ဖန်ဆင်းတော်မူခဲ့၏။ အသင်သည် "ရဟ်မာန်" ကရုဏာတော်ရှင်၏ ဖန်ဆင်းမှု၌ ကွာခြားမှု၊ မဆီလျော်မှုဟူ၍ကား လုံး၀ တွေ့ရှိရမည် မဟုတ်ပေ။ သို့ဖြစ်ပေရာ အသင်သည် မျက်စိကို ပြန်မော့၍ ကြည့်လော့၊ အသင်သည် တစ်စုံတစ်ရာ အက်ကွဲမှု တွေ့မြင်ရလေသလော။

الَّذِي خَلَقَ سَبْعَ سَمٰوٰتٍ طِبَاقًا ۖ مَا تَرٰى فِي خَلْقِ الرَّحْمٰنِ مِنْ تَفٰوُتٍ ۖ فَارْجِعِ الْبَصَرَ هَلْ تَرٰى مِنْ فُطُورٍ ﴿٣﴾

၄။ ထို့နောက် အသင်သည် မျက်စိကိုပြန်မော့၍ အကြိမ်ကြိမ် ပြန်လည်ကြည့်ရှုလော့၊ မျက်စိသာလျှင် အသင့်ထံသို့ အရှက်ရ၍ညောင်းလျက် ပြန်လာမည် ဖြစ်၏။ [1]

ثُمَّ ارْجِعِ الْبَصَرَ كَرَّتَيْنِ يَنْقَلِبْ إِلَيْكَ الْبَصَرُ خَاسِئًا وَّهُوَ حَسِيرٌ ﴿٤﴾

၅။ ထိုမှတစ်ပါး ဧကန်မလွဲ ငါအရှင်မြတ်သည် အနီးဆုံး(အောက်ဆုံး)ဖြစ်သောမိုးကောင်းကင်ကို မီးအိမ်များဖြင့် တင့်တယ်သိုက်မြိုက်စွာ ဆင်ယင်ထားတော်မူသည့်ပြင် ငါအရှင်မြတ်သည် ယင်းမီးအိမ်များကို "ရှိုင်တွာန်" မိစ္ဆာကောင်များအား ပစ်ခတ်ရန် လက်နက်ကိရိယာများပြုလုပ်တော်မူခဲ့၏။ ထိုမှတစ်ပါး ငါအရှင်မြတ်သည် ၎င်းတို့အဖို့ ဂျဟန္နမ်ငရဲ၏ပြစ်ဒဏ်ကိုလည်း အဆင်သင့်ပြုလုပ်၍ ထားရှိတော်မူပြီးဖြစ်ပေသတည်း။

وَلَقَدْ زَيَّنَّا السَّمَاءَ الدُّنْيَا بِمَصَابِيحَ وَجَعَلْنٰهَا رُجُومًا لِّلشَّيٰطِينِ وَأَعْتَدْنَا لَهُمْ عَذَابَ السَّعِيرِ ﴿٥﴾

---

(၁) ဆိုလိုသည်ကား အလ္လာဟ်အရှင်မြတ် စီရင်ဖန်ဆင်းထားတော်မူသည့် အရာခပ်သိမ်းကုန်တို့သည် ဆန်းကြယ်ဘိ၏။ ပြေပြစ်ဘိ၏။ သပ်ရပ်ဘိ၏။ အလွန်သေးငယ်သော အဏုမြူမှအစ၊ အလွန်ကြီးမားသော ဂြိုလ်ကြီးများအထိ အရာရာကို လေ့လာသည်နှင့်အမျှ၊ ကြည့်ရှုသည်နှင့်အမျှ၊ ပို၍ပို၍ ဆန်းကြယ်သည်၊ ပြေပြစ်သည်၊ သပ်ရပ်သည်၊ နက်နဲသိမ်မွေ့သည်။ အံ့မဆုံး ရှုမငြီးဖြစ်သည်ကိုသာ တွေ့ရှိရ၏။ မဆီလျော်မှုဟူ၍ကား စိုးစဉ်းမျှမတွေ့ရှိရပေ။

လူသားတိုင်းသည် နေ့စဉ်နှင့်အမျှ မိုးကောင်းကင်ကို တွေ့မြင်နေရ၏။ မိုးကား မြင့်စွင့်လှ၏။ ကြယ်တာရာများနှင့် ခြယ်လှယ်ထားတော်မူသည်မှာ အံ့မဆုံး ရှုမငြီးပင်၊ မိုး၏သက်တမ်းကား ရှည်လျားလှချေပြီ၊ သို့တစေ ယခုထက်တိုင် မိုးတွင် တစ်စုံတစ်ရာ အပြစ်အနာအဆာ မတွေ့ရှိရသေးပေ။ မိုးကိုကြည့်၊ ထပ်ကြည့်ပါလေ၊ အကြိမ်ကြိမ် ကြည့်ပါလေ၊ စူးစိုက်၍ကြည့်ပါလေ၊ မျက်စိသာလျှင် ညောင်း၍သွားပေမည်။ မိုးတွင်မူကား အပြစ်တစ်စုံတစ်ရာ တွေ့ရှိရမည်မဟုတ်ပေ။ ဤအကြောင်းနှင့်ဆက်စပ်၍ ကုရ်အာန်(၅၀:၆)ကို ဆင်ခြင်ပါကုန်။

وَلِلَّذِينَ كَفَرُوا بِرَبِّهِمْ عَذَابُ جَهَنَّمَ ۖ وَبِئْسَ الْمَصِيرُ ﴿٦﴾

၆။ ထို့ပြင် မိမိတို့ကို ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်အား သွေဖည်ငြင်းပယ်ကြကုန်သောသူတို့၌ ဂျဟန္နမ်ငရဲ၏ပြစ်ဒဏ်သည် ရှိချေမည်။ စင်စစ်မှာကား ယင်း"ဂျဟန္နမ်"ငရဲသည် လွန်စွာဆိုးရွားလှသော စခန်းပင် ဖြစ်ချေ၏။

إِذَا أُلْقُوا فِيهَا سَمِعُوا لَهَا شَهِيقًا وَهِيَ تَفُورُ ﴿٧﴾

၇။ ၎င်းတို့သည် ယင်းငရဲ၌ပစ်ချခြင်းကို ခံခဲ့ကြရသောအခါ ယင်းငရဲ၏ဟိန်းသံကို ကြားကြရပေမည်။ ၎င်းပြင် ယင်းငရဲသည် ဆူပွက်လျက်ရှိမည်မှာ၊

تَكَادُ تَمَيَّزُ مِنَ الْغَيْظِ ۖ كُلَّمَا أُلْقِيَ فِيهَا فَوْجٌ سَأَلَهُمْ خَزَنَتُهَا أَلَمْ يَأْتِكُمْ نَذِيرٌ ﴿٨﴾

၈။ အမျက်ဒေါသကြောင့် ပေါက်ကွဲလုမတတ် ရှိပေမည်။ ယင်း"ဂျဟန္နမ်"ငရဲ၌ အုပ်စုတစ်စု ပစ်ချခြင်း ခံရတိုင်း ယင်းငရဲကို စောင့်ကြပ်သော ကောင်းကင်တမန်များက ၎င်းတို့အား "အသင်တို့ထံ သတိပေးနှိုးဆော်သူ တစ်ဦးတစ်ယောက်မျှ မလာခဲ့လေသလော" ဟု မေးမြန်းကြပေမည်။

قَالُوا بَلَىٰ قَدْ جَاءَنَا نَذِيرٌ فَكَذَّبْنَا وَقُلْنَا مَا نَزَّلَ اللَّهُ مِنْ شَيْءٍ إِنْ أَنْتُمْ إِلَّا فِي ضَلَالٍ كَبِيرٍ ﴿٩﴾

၉။ (ထိုအခါ) ၎င်းတို့က အဘယ်ကြောင့် မဟုတ်ပါသနည်း၊ ဧကန်မလွဲ သတိပေးနှိုးဆော်သူသည် ကျွန်ုပ်တို့ထံ လာခဲ့ပေသည်။ သို့တစေလည်း ကျွန်ုပ်တို့က မဟုတ်မမှန်ဟူ၍ စွပ်စွဲငြင်းပယ်ခဲ့ကြသည့်ပြင် အလ္လာဟ်အရှင်မြတ်သည် မည်သည့် တစ်စုံတစ်ရာကို မျှပင် ချပေးတော်မူခြင်းမရှိ၊ အသင်တို့သည် ကြီးကျယ်လှစွာသော လမ်းမှားမှု၌ ရှိနေကြသည်ဟု ပြောဆိုခဲ့ကြောင်း ဖြေကြားကြပေမည်။

وَقَالُوا لَوْ كُنَّا نَسْمَعُ أَوْ نَعْقِلُ مَا كُنَّا فِي أَصْحَابِ السَّعِيرِ ﴿١٠﴾

၁၀။ ထိုမှတစ်ပါး ၎င်းတို့က အကယ်၍သာ ကျွန်ုပ်တို့သည် နားထောင်ခဲ့ကြပါလျှင် သို့တည်းမဟုတ် ကျွန်ုပ်တို့သည် နားလည်ခဲ့ကြပါလျှင် ကျွန်ုပ်တို့သည် ငရဲသားများ ဖြစ်ကြမည်မဟုတ်ဟု ပြောဆိုကြပေမည်။

فَاعْتَرَفُوا بِذَنْبِهِمْ فَسُحْقًا لِأَصْحَابِ السَّعِيرِ ﴿١١﴾

၁၁။ မည်သို့ပင်ဖြစ်စေ ၎င်းတို့သည် (ကိယာမတ်နေ့တွင်) မိမိတို့၏ ပြစ်မှုကျူးလွန်ခြင်းကို ဝန်ခံကြပေမည်၊ သို့ဖြစ်ပေရာ "ဂျဟန္နမ်" ငရဲသားတို့၌ ကရုဏာတော်မှ ကင်းဝေးမှုသည် ရှိစေသား။

إِنَّ الَّذِينَ يَخْشَوْنَ رَبَّهُمْ بِالْغَيْبِ لَهُمْ مَغْفِرَةٌ وَأَجْرٌ كَبِيرٌ ﴿١٢﴾

၁၂။ ကေန်မလွဲ မိမိတို့ကို ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်အား မမြင်ဘဲလျက် ကြောက်ရွံ့သောသူတို့အဖို့ အပြစ်မှ ချမ်းသာပေးခြင်းသည်လည်းကောင်း၊ ကြီးကျယ်လှစွာသော အကျိုးကျေးဇူးသည်လည်းကောင်း၊ ရှိ၏။

وَأَسِرُّوا قَوْلَكُمْ أَوِ اجْهَرُوا بِهِ إِنَّهُ عَلِيمٌ بِذَاتِ الصُّدُورِ ﴿١٣﴾

၁၃။ ထို့ပြင် အသင်တို့သည် မိမိတို့၏ စကားများကို လျှို့ဝှက်စွာပြောဆိုကြသည်ဖြစ်စေ၊ ကျယ်လောင်စွာ ပြောဆိုကြသည်ဖြစ်စေ၊ ကေန်စင်စစ် ထိုအရှင်မြတ်မှာမူကား စိတ်နှလုံးများအတွင်းဝယ် ရှိသည်တို့ကိုပင် အကြွင်းမဲ့သိရှိတော်မူသောအရှင် ဖြစ်တော်မူ၏။ [၁]

أَلَا يَعْلَمُ مَنْ خَلَقَ وَهُوَ اللَّطِيفُ الْخَبِيرُ ﴿١٤﴾

၁၄။ ဖန်ဆင်းတော်မူသော အရှင်မြတ်သည် သိတော်မူမည် မဟုတ်ပါသလော၊ စင်စစ်မှာမူကား ထိုအရှင်မြတ်သည် သိမ်မွေ့သောအရာတို့ကို လွန်စွာသိမြင်တော်မူသော အရှင်၊ အရာခပ်သိမ်းတို့ကို အကြွင်းမဲ့ ကြားသိတော်မူသောအရှင်၊ ဖြစ်တော်မူ၏။

---

(၁) ဆိုလိုသည်ကား အသင်လူသားတို့သည် အလ္လာဟ်အရှင်မြတ်အား ဤမံသစက္ခုဖြင့် မမြင်နိုင်ကြပေ။ သို့တစေ ထိုအရှင်မြတ်သည် အသင်တို့အား မြင်တော်မူသည်။ အသင်တို့ ပြောဆိုသမျှကိုလည်း လျှို့ဝှက်စွာ ပြောဆိုသည်ဖြစ်စေ၊ ကျယ်လောင်စွာ ပြောဆိုသည်ဖြစ်စေ၊ လူသိရှင်ကြား ပြောဆိုသည်ဖြစ်စေ၊ ဆိတ်ကွယ်ရာ၌ နှစ်ကိုယ်ကြားပြောဆိုသည်ဖြစ်စေ၊ အားလုံး ကြားသိတော်မူသည်။ ထို့မျှမက အသင်တို့၏ စိတ်နှလုံးသားတွင် ဖြစ်ပေါ်နေသည့် အတွေးအခေါ် အကြံအစည်များကိုပင် သိရှိတော်မူသည်။ အချုပ်ဆိုရသော် အလ္လာဟ်အရှင်မြတ်သည် အသင်တို့အဖို့ မျက်ကွယ်၌ဖြစ်တော်မူသော်လည်း ထိုအရှင်မြတ်အဖို့မှာကား အသင်တို့သည် မျက်ကွယ်၌ မဟုတ်ကြပေ။

هُوَ الَّذِي جَعَلَ لَكُمُ الْأَرْضَ ذَلُولًا فَامْشُوا فِي مَنَاكِبِهَا وَكُلُوا مِن رِّزْقِهِ ۖ وَإِلَيْهِ النُّشُورُ ﴿١٥﴾

၁၅။ ထိုအရှင်မြတ်သည်ပင် အသင်တို့အကျိုးငှာ ပထဝီမြေကို တစ်ဆင့်အသုံးခံ၊ လက်အောက်ခံ ပြုလုပ်ထားတော်မူ၏။ သို့ဖြစ်ပေရာ အသင်တို့သည် ယင်းပထဝီမြေ၏ သွားလာရာလမ်းများ၌ လှုပ်ရှားသွားလာကြလေကုန်။ ထိုမှတစ်ပါး အသင်တို့သည် ထိုအရှင်မြတ် ချီးမြှင့် ပေးသနားတော်မူသော ရိက္ခာမှ စားသုံးကြလေကုန်။ စင်စစ်သော်ကား ရှင်ပြန်ထ၍ ထိုအရှင်မြတ် အထံတော်သို့ပင် ပြန်လည်ရောက်ရှိကြရအံ့သတည်း။ ၁

ءَأَمِنتُم مَّن فِي السَّمَاءِ أَن يَخْسِفَ بِكُمُ الْأَرْضَ فَإِذَا هِيَ تَمُورُ ﴿١٦﴾

၁၆။ အသင်တို့သည် မိုးကောင်းကင်၌ ရှိတော်မူသော အရှင်မြတ်အား ထိုအရှင်မြတ်သည် အသင်တို့အား မြေမျိုစေတော်မူမည် မဟုတ်ဟူ၍ စိုးရိမ်ကြောင့်ကြမှု ကင်းကြလေပြီလော၊ သို့(မြေမျိုစေတော်မူသော) အခါ ယင်းပထဝီမြေမှာ ပြင်းထန်စွာ တုန်လှုပ်လျက်ရှိပေမည်။

أَمْ أَمِنتُم مَّن فِي السَّمَاءِ أَن يُرْسِلَ عَلَيْكُمْ حَاصِبًا ۖ فَسَتَعْلَمُونَ كَيْفَ نَذِيرِ ﴿١٧﴾

၁၇။ သို့တည်းမဟုတ် အသင်တို့သည် မိုးကောင်းကင်၌ရှိတော်မူသော အရှင်မြတ်အား ထိုအရှင်မြတ်သည် အသင်တို့အပေါ်ဝယ် ကျောက်စရစ်မိုး ရွာသွန်းစေတော်မူမည်မဟုတ်ဟူ၍ စိုးရိမ်ခြင်း ကင်းကြလေပြီလော။ သို့ဖြစ်လျှင် မကြာမြင့်မီပင် ငါအရှင်မြတ်၏ သတိပေးနှိုးဆော်မှုသည် မည်သို့ရှိခဲ့သည်ကို သိရှိကြပေမည်။

(၁) ဆိုလိုသည်ကား အတိုင်းမသိ ထုထည်ကြီးမားလှသော ပထဝီမြေကြီးကိုပင် အလ္လာဟ်အရှင်မြတ်သည် အသင်လူသားတို့ အကျိုးငှာ လူသားတို့၏ လက်အောက်ခံ အသုံးခံအဖြစ် ပိရိစွာ ဖန်ဆင်းထားတော်မူသည်။ လူသားတို့သည် ပထဝီမြေကြီးကို အမျိုးမျိုး အသုံးပြုလျက် ရှိကြသည်။ ပထဝီမြေကြီးတွင် အမျိုးမျိုး ခြယ်လှယ်လျက် ရှိကြသည်။ ပထဝီမြေကြီးပေါ်တွင်သာမက ပထဝီမြေကြီး၏ ကျောက်ကုန်းပေါ်၌ တည်ရှိသော တောင်ကြီး တောင်ငယ်များကိုပင် ဖြတ်သန်းသွားလာလျက် ရှိကြသည်။ မြေစွန်မြေဖျားအထိပေါက်ရောက်လျက် ရှိကြသည့် လိုရာစားနပ်ရိက္ခာများကို ရှာဖွေစားသုံးလျက် ရှိကြပေသည်။ ဤသည်တို့သည် ➤➤

وَلَقَدْ كَذَّبَ الَّذِينَ مِنْ قَبْلِهِمْ فَكَيْفَ كَانَ نَكِيرِ ﴿١٨﴾

၁၈။ စင်စစ်သော်ကား ၎င်းတို့အလျင်ရှိခဲ့ကြသော သူတို့သည်လည်း မဟုတ်မမှန်ဟူ၍ စွပ်စွဲငြင်းပယ်ခဲ့ကြကုန်၏။ သို့ဖြစ်ပေရာ ငါအရှင်မြတ်၏ပြစ်ဒဏ်မှာ မည်သို့ရှိပေသနည်း။ [၁]

أَوَلَمْ يَرَوْا إِلَى الطَّيْرِ فَوْقَهُمْ صَافَّاتٍ وَيَقْبِضْنَ مَا يُمْسِكُهُنَّ إِلَّا الرَّحْمَٰنُ إِنَّهُ بِكُلِّ شَيْءٍ بَصِيرٌ ﴿١٩﴾

၁၉။ ၎င်းတို့သည် မိမိတို့ထက်ဝယ် ငှက်တိရစ္ဆာန်တို့အား အတောင်ပံများကို ကားလျက်ရှိသည်ကိုလည်းကောင်း၊ (ယင်းအတောင်ပံများကို) ရုပ်သိမ်းလျက်ရှိကြသည်ကိုလည်းကောင်း၊ ရှုမြင်ခဲ့ကြသည် မဟုတ်လော။

ယင်း ငှက်တိရစ္ဆာန်တို့ကို "ရဟ်မာန်" ကရုဏာတော်ရှင်မှတစ်ပါး အခြားမည်သူ တစ်ဦးတစ်ယောက်မျှပင် ထိန်းသိမ်း၍ ထားရှိသည်မဟုတ်ပြီ။ ကေန်မလွဲ ထိုအရှင်မြတ်သည် အရာခပ်သိမ်းတို့ကို အကြွင်းမဲ့ရှုမြင်တော်မူသောအရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

---

➤➤ အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်ကြောင့်ပင်။ ဤတွင် တစ်ရက် ထိုအရှင်မြတ်ထံ ပြန်ကြရဦးမည် ဖြစ်သည်ကိုလည်း သိထားအပ်ကြပေသည်။ ကျေးဇူးသိတတ်ခဲ့ကြပါက ထိုအရှင်မြတ်ထံတော်၌ မျက်နှာပန်းလှကြရပေမည်။ ကျေးဇူးကန်းမိခဲ့ကြပါသော် မျက်နှာညှိုးငယ်ကြရပေမည်။

ဤအာယတ်တော်တွင်ပါရှိသော 'မနာကိဗ်' ဟူသောပုဒ်သည် အစွန်အဖျားများ၊ တောင်များ၊ လမ်းများ၊ အနက်၌ဖြစ်သည်။ ကြည့်-မဒါရိက်။

(၁) အထက်တွင် အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်များကို မိန့်ဆိုထားတော်မူသည်။ အထူးသဖြင့် လူသားတို့အကျိုးငှာ မိုးကောင်းကင်များနှင့် ပထဝီမြေကြီးကို ဖန်ဆင်းထားတော်မူသည်။ အလ္လာဟ်အရှင်မြတ်သည် မဟာကရုဏာရှင် ဖြစ်တော်မူသည်ကား မှန်သည်။ သို့တစေ ကရုဏာပြုတော်မူပါလျက် ကရုဏာတော်ကို သိတတ်ရန်လိုအပ်သည်။ ပတ်ဝန်းကျင်နှင့် လိုအပ်သည့်အကြောင်းတရားများကို ဖန်တီးပေးထားတော်မူပါလျက် ကရုဏာတော်ကို မသိပါက၊ ကရုဏာတော်ကို အလွဲသုံးစားပြုပါက၊ သွေဖည်သောင်းကျန်းပါက၊ ပတ်ဝန်းကျင်ကို အန္တရာယ်ပြုလာပါက၊ ထိုက်သည့်အားလျော်စွာ အရေးလည်းယူတော်မူသည်။ အတိတ်ခေတ်များတွင် ယင်းသို့သော ဆူးငြောင့်ခလုတ်များကို ဖယ်ရှားပစ်တော်မူခဲ့သည်မှာလည်း ကမ္ဘာ့သမိုင်းစဉ်တွင် အထင်အရှားပင်။ "အာဒ်" "ဆမုဒ်"၏ဖြစ်ရပ်များသည် သင်ခန်းစာပင်။

သို့ဖြစ်ရာ လက်ရှိလူသားတို့သည် အလ္လာဟ်အရှင်မြတ်အား ကျေးဇူးသိတတ်ကြရာသည်။ ➤➤

၂၀။ စင်စစ် "ရဟ်မာန်" ကရုဏာတော်ရှင်မှ တစ်ပါး အသင်တို့၏ စစ်သည်ဗိုလ်ပါအဖြစ် အသင်တို့အား ကူညီအံ့သောသူသည် မည်သူနည်း။ စင်စစ်မှာကား (ကာဖိရ်) သွေဖည်ငြင်းပယ်သောသူတို့သည် ဖြားယောင်းမှု၌ပင် ရှိနေကြကုန်၏။

أَمَّنْ هَٰذَا الَّذِي هُوَ جُندٌ لَّكُمْ يَنصُرُكُم مِّن دُونِ الرَّحْمَٰنِ ۚ إِنِ الْكَافِرُونَ إِلَّا فِي غُرُورٍ ﴿٢٠﴾

၂၁။ စင်စစ် အကယ်၍ ထိုအရှင်မြတ်သည် မိမိ (ထံမှ) ရိက္ခာကို ပိတ်ပင်တော်မူခဲ့ပါလျှင် အသင်တို့အား ရိက္ခာပေးအံ့သောသူသည် မည်သူနည်း။ စင်စစ်မှာကား ထိုသူတို့သည် ဆိုးသွမ်းမှု၌လည်းကောင်း၊ စက်ဆုပ်ရွံရှာမှု၌လည်းကောင်း၊ စွဲမြဲစွာ ရှိနေကြကုန်၏။ [၁]

أَمَّنْ هَٰذَا الَّذِي يَرْزُقُكُمْ إِنْ أَمْسَكَ رِزْقَهُ ۚ بَل لَّجُّوا فِي عُتُوٍّ وَنُفُورٍ ﴿٢١﴾

၂၂။ မိမိ မျက်နှာပေါ်၌ မှောက်လျက်သွားသောသူသည် ဖြောင့်မှန်စွာသွားသူ ဖြစ်လေသလော၊ သို့တည်းမဟုတ် ဖြောင့်မတ်သောလမ်းပေါ်၌ မတ်မတ်သွားနေသောသူသည် ဖြောင့်မှန်စွာသွားသူ ဖြစ်လေသလော။ [၂]

أَفَمَن يَمْشِي مُكِبًّا عَلَىٰ وَجْهِهِ أَهْدَىٰ أَمَّن يَمْشِي سَوِيًّا عَلَىٰ صِرَاطٍ مُّسْتَقِيمٍ ﴿٢٢﴾

➤➤ ကျေးဇူးမကန်းကြရာ၊ မသွေဖည်ကြရာ၊ မသောင်းကျန်းကြရာ၊ အမှုမဲ့အမှတ်မဲ့ စိတ်အေးလက်အေး မနေကြရာ။ ပထဝီမြေကြီးဖြင့် အမျိုးမျိုး အကျိုးပြုထားတော်မူသောအရှင်၊ မိုးကောင်းကင်များဖြင့် အမျိုးမျိုး အကျိုးပြုထားတော်မူသောအရှင်သည်၊ မြေလည်း မျိုစေတော်မူနိုင်သည်၊ မိုးကောင်းကင်မှ ခဲမိုးလည်း ရွာသွန်းစေတော်မူနိုင်သည်။ ပြင်းထန်သော လေမုန်တိုင်းကိုလည်း တိုက်ခတ်စေတော်မူနိုင်သည်။ သို့ဖြစ်ရာ လက်ရှိလူသားတို့သည် စိုးရိမ်ကြောင့်ကြမှုကင်းစွာ မနေကြရာ။ အလ္လာဟ်အရှင်မြတ်က မိမိ၏ ကရုဏာတော်ဖြင့် အရေးယူတော်မမူသေးဘဲ ခေတ္တခဏ လျစ်လျူပြုထားတော်မူသည်ကိုလည်း အထင်မှား၍ မနေကြရာ။

(၁) အကယ်တန္တိ အလ္လာဟ်အရှင်မြတ်သည် မိမိပေးသနားတော်မူသော ရိက္ခာကို ပိတ်ပင်တော်မူလိုက်ပါလျှင် အသင်တို့အား အသူရိက္ခာပေးအံ့နည်း။ လူသားတို့အား အလ္လာဟ်အရှင်မြတ်သာလျှင် စားနပ်ရိက္ခာ ပေးသနားတော်မူသည်။ စားနပ်ရိက္ခာကို ထိုအရှင်မြတ် ပိတ်ပင်တော်မူလိုက်ပါက (ထိုအရှင်မြတ်မှတစ်ပါး) အခြားမည်သူတစ်ဦးတစ်ယောက်၌မျှ စားနပ်ရိက္ခာ ပေးနိုင်စွမ်းမရှိ။ သို့ဖြစ်ပါသော်လည်း များစွာသော လူသားတို့သည် ဆိုးသွမ်းလျက်ပင် ရှိကြပေသည်။ အမှန်တရားကို စက်ဆုပ်ရွံ့ရှာလျက်ပင် ရှိကြပေသည်။

(၂) ဆိုလိုသည်ကား အကြင်သူတစ်ဦးသည် ဖြောင့်မတ်မှန်ကန်သောလမ်းကြောင်းပေါ်၌ လူလိုသူလို ဖြောင့်မတ်စွာ လျှောက်သွား၏။ အခြားတစ်ဦးသည် မဖြောင့်မတ်သော မမှန်ကန်သောလမ်းကြောင်းပေါ်၌ မှောက်လျက် ➤➤

قُلْ هُوَ الَّذِىٓ اَنْشَاَكُمْ وَجَعَلَ لَكُمُ السَّمْعَ وَالْاَبْصَارَ وَالْاَفْـِٕدَةَ ۗ قَلِيْلًا مَّا تَشْكُرُوْنَ ﴿٢٣﴾

၂၃။ (အို-နဗီတမန်တော်) အသင်သည် ပြောကြားပါလေ။ (အချင်းတို့၊) ထိုအရှင်မြတ်သည်ပင် အသင်တို့အား ဖန်ဆင်းတော်မူခဲ့သောအရှင်ဖြစ်တော်မူ၏။ ထို့ပြင် အသင်တို့အဖို့ ထိုအရှင်မြတ်သည် နားကိုလည်းကောင်း၊ မျက်စိကိုလည်းကောင်း၊ စိတ်နှလုံးများကိုလည်းကောင်း၊ ပြုလုပ်၍ ပေးသနားတော်မူခဲ့၏။ (သို့ရာတွင်) အသင်တို့မှာမူကား အနည်းငယ်မျှသာလျှင် ကျေးဇူးသိတတ်ကြကုန်၏။

قُلْ هُوَ الَّذِىْ ذَرَاَكُمْ فِى الْاَرْضِ وَاِلَيْهِ تُحْشَرُوْنَ ﴿٢٤﴾

၂၄။ (အို-နဗီတမန်တော်) အသင်သည် ပြောကြားပါလေ။ (အချင်းတို့၊) ထိုအရှင်မြတ်သည်ပင် အသင်တို့အား ပထဝီမြေ၌ ပြန့်ပွားစေတော်မူခဲ့သောအရှင်ဖြစ်တော်မူ၏။ ၎င်းပြင် ထိုအရှင်မြတ်အထံတော်သို့ပင် အသင်တို့သည် စုရုံးကြရပေမည်။ ①

وَيَقُوْلُوْنَ مَتٰى هٰذَا الْوَعْدُ اِنْ كُنْتُمْ صٰدِقِيْنَ ﴿٢٥﴾

၂၅။ ထို့ပြင် ၎င်းတို့က "အကယ်၍ အသင်တို့သည် သစ္စာဝါဒီများ ဖြစ်ကြလျှင် ဤချိန်းဆိုချက်သည် မည်သည့်အခါ၌ ဖြစ်မြောက်အံ့နည်း" ဟု ပြောဆိုကြကုန်၏။

---

➤➤ လျှောက်၏။ ထိုသူနှစ်ဦးသည် အချင်းချင်း အသို့လျှင်တူနိုင်ကြအံ့နည်း။ ပထမပုဂ္ဂိုလ်သည် လိုရာပန်းတိုင်သို့ ရောက်မည်။ ဒုတိယပုဂ္ဂိုလ်သည် လိုရာပန်းတိုင်သို့ ရောက်မည်မဟုတ်ပေ။ တစ်ပါးတည်းသော အလ္လာဟ်အရှင်မြတ်အား ယုံကြည်ကိုးကွယ်သော မုအ်မင်န်နှင့် ကိုးကွယ်ရာအများကိုးကွယ်သော မွတ်ရှိရစ်က်၏ ပုံပမာမှာလည်း ဤနည်းအတိုင်းပင်။ မုအ်မင်န်သည် လိုရာပန်းတိုင်သို့ ရောက်မည်။ မွတ်ရှိရစ်က်မှုကား လိုရာပန်းတိုင်သို့ ရောက်မည်မဟုတ်ပေ။ မုအ်မင်န်နှင့် မွတ်ရှိရစ်က်၏ သွားလာပုံသည် ဤပစ္စက္ခတွင် ခြားနားသကဲ့သို့ နောင်တမလွန်ဘဝတွင်လည်း ခြားနားမည်သာဖြစ်သည်။

① လူသားတို့အား အလ္လာဟ်အရှင်မြတ်သည်ပင် စတင်ဖန်ဆင်းတော်မူ၏။ နောက်ဆုံးတွင် လူသားတို့အား မိမိထံတော်သို့ ပြန်လည်စုရုံးစေတော်မူမည် ဖြစ်သည်။ ဆိုလိုသည်ကား လူသားတို့၏ အစလည်း ထိုအရှင်မြတ်အထံတော်မှ ဖြစ်သည်။ အဆုံးလည်း ထိုအရှင်မြတ်အထံတော်၌ပင် ဖြစ်မည်။ အကြင်ဌာနမှ လာခဲ့ကြ၏။ ထိုဌာနသို့ ပြန်လည်သွားကြရမည် ဖြစ်သည်။ သို့ဖြစ်ရာ လူသားတို့သည် အခါခပ်သိမ်း အလ္လာဟ်အရှင်မြတ်အား အောက်မေ့တသ သတိရကြရာသည်။ ထိုအရှင်မြတ်ထံ ပြန်သွားကြသည့်အခါတွင်လည်း လက်မဲ့မဖြစ်ကြရာ။

قُلْ إِنَّمَا الْعِلْمُ عِنْدَ اللَّهِ وَإِنَّمَا أَنَا نَذِيرٌ مُّبِينٌ ﴿٢٦﴾

၂၆။ (အို-နဗီတမန်တော်) အသင်သည် ပြောကြားပါလေ။ "(ဤသည်နှင့်စပ်လျဉ်း၍ တိကျသော)အသိပညာမှာ အလ္လာဟ်အရှင်မြတ်၌သာရှိ၏။ စင်စစ်သော်ကား ငါသည် ထင်ရှားလှစွာသော သတိပေးနှိုးဆော်သူတစ်ဦးမျှသာဖြစ်၏။" [၁]

فَلَمَّا رَأَوْهُ زُلْفَةً سِيٓـَٔتْ وُجُوهُ الَّذِينَ كَفَرُوا وَقِيلَ هَٰذَا الَّذِي كُنْتُمْ بِهِ تَدَّعُونَ ﴿٢٧﴾

၂၇။ စင်စစ်သော်ကား ၎င်းတို့သည် ယင်း (ကိယာမတ်)ကို တွေ့မြင်ကြသောအခါ "ကာဖိရ်" သွေဖည်ငြင်းပယ်ကြကုန်သောသူတို့၏ မျက်နှာများမှာ ပျက်သွားကြပေမည်။ ထိုမှတစ်ပါး ဤသည်ပင် အသင်တို့တောင်းဆိုလျက်ရှိခဲ့ကြသောအရာဖြစ်သည်ဟု ပြောဆိုခြင်းကို ခံကြရကုန်အံ့သတည်း။ [၂]

قُلْ أَرَءَيْتُمْ إِنْ أَهْلَكَنِيَ اللَّهُ وَمَنْ مَّعِيَ أَوْ رَحِمَنَا فَمَنْ يُجِيرُ الْكَٰفِرِينَ مِنْ عَذَابٍ أَلِيمٍ ﴿٢٨﴾

၂၈။ (အို-နဗီတမန်တော်) အသင်သည် ပြောကြားပါလေ။ (အချင်းတို့) အကယ်၍သာ အလ္လာဟ်အရှင်မြတ်သည် ငါ့အားလည်းကောင်း၊ ငါနှင့်အတူရှိသူတို့အားလည်းကောင်း၊ ဖျက်ဆီးတော်မူခဲ့ပါလျှင် သို့မဟုတ် ထိုအရှင်မြတ်သည် ငါတို့အား သနားကရုဏာပြုတော်မူခဲ့ပါလျှင် "ကာဖိရ်" သွေဖည်ငြင်းပယ်သောသူတို့အား နာကျင်ဖွယ်ဖြစ်သော ပြစ်ဒဏ်မှ မည်သူကာကွယ် စောင့်ရှောက်မည်နည်း။ အသင်တို့သည် (ငါ့အား) ပြောပြကြလေကုန်။ [၃]

(၁) အလ္လာဟ်အရှင်မြတ်ထံတော်သို့ တစ်ရက် လူသားတို့ ပြန်လည် ရောက်ရှိကြရမည့်အကြောင်း ပြောဆိုသောအခါ ကာဖိရ်များက "ကိယာမတ် ဘယ်တော့ဖြစ်မည်နည်း"ဟူ၍ ပြက်ရယ်သည့်သဘောဖြင့် ပြောဆိုမေးမြန်းခဲ့ကြ၏။ ဤအာယတ်တော်တွင် တမန်တော်မြတ်အား ယင်းသို့သော ကာဖိရ်များကို "ကိယာမတ်ဖြစ်မည့် နေ့ရက်အချိန်အတိအကျကို အလ္လာဟ်အရှင်မြတ်သာလျှင် သိတော်မူသည်။ သိထားအပ်သည်မှာ ကိယာမတ်နေ့ မုချဖြစ်မည်။ ပွင့်လင်းစွာ သတိပေးခြင်းမှာ ကျွန်ုပ်၏တာဝန်သာဖြစ်သည်"ဟူ၍ ဖြေကြားစေတော်မူသည်။

(၂) ယခုသော် ကာဖိရ်များသည် ကိယာမတ်ဖြစ်မည်ကိုပင် ပြက်ရယ်နေကြ၏။ သို့ရာတွင် ယင်းကိယာမတ်ဖြစ်ရန်အချိန်နီးကပ်လာပြီကို တွေ့မြင်ကြရသောအခါ ကာဖိရ်တို့သည် မျက်နှာပျက်သွားကြပေမည်။ အကြောက်ကြီးကြောက်ကြပေမည်။ ဤသည် အသင်တို့ အလျင်စလို တောင်းဆိုနေခဲ့ကြသော ကိယာမတ်ပင်ဖြစ်သည်ဟုပြောဆိုခြင်းကိုလည်း ခံကြရပေမည်။

قُلْ هُوَ الرَّحْمٰنُ اٰمَنَّا بِهٖ وَعَلَيْهِ تَوَكَّلْنَا ۚ فَسَتَعْلَمُوْنَ مَنْ هُوَ فِيْ ضَلٰلٍ مُّبِيْنٍ ﴿٢٩﴾

၂၉။ (အို-နဗီတမန်တော်) အသင်သည် ပြောကြားပါလေ။ (အချင်းတို့) ထိုအရှင်မြတ်သည်ပင် "ရဟ်မာန်" မဟာကရုဏာတော်ရှင်ဖြစ်တော်မူ၏။ ထိုအရှင်မြတ်အားသာလျှင် ငါတို့သည် သက်ဝင် ယုံကြည်ကြကုန်၏။ ၎င်းပြင် ထိုအရှင်မြတ်အပေါ်၌သာလျှင် ငါတို့သည် ယုံကြည်လွှဲအပ်ကြကုန်၏။ စင်စစ်သော်ကား မည်သူသည် ထင်ရှားစွာသော လမ်းမှန်၌ ရှိနေသည်ကို မကြာမြင့်မီပင် အသင်တို့ သိရှိကြရပေတော့မည်။ ၁

قُلْ اَرَءَيْتُمْ اِنْ اَصْبَحَ مَاۤؤُكُمْ غَوْرًا فَمَنْ يَّاْتِيْكُمْ بِمَاۤءٍ مَّعِيْنٍ ﴿٣٠﴾

၃၀။ (အို-နဗီတမန်တော်) အသင်သည် ပြောကြားပါလေ။ (အချင်းတို့) အကယ်၍ အသင်တို့၏ ရေသည် (မြေဝယ်) တိမ်မြုပ်၍ သွားခဲ့ပါလျှင် အသင်တို့ထံ ကြည်လင်စီးတွေသော ရေကို မည်သူယူလာအံ့နည်း။ ၂

(၃) မပြောကောင်းမဆိုအပ်၊ ကာဖိရ်များသည် တမန်တော်မြတ်နှင့် တမန်တော်မြတ်၏ နောက်လိုက်တပည့်သားများ မနေ့အမြန် သေကြေပျက်စီးသွားရေးကိုပင် အထူးလိုလားနေခဲ့ကြ၏။ ဤအာယတ်တော်တွင် တမန်တော်မြတ်အား ယင်းသို့သော ကာဖိရ်များကို ဖြေကြားထားစေတော်မူသည်မှာ အို-ကာဖိရ်အပေါင်းတို့၊ အကယ်တန္တိ အသင်တို့ ထင်မြင်ယူဆထားကြသည့်အတိုင်း ကျွန်ုပ်နှင့်တကွ ကျွန်ုပ်၏တပည့်သားများ အားလုံး ဤပစ္စက္ခတွင် ပျက်စီးကြရသည်ရှိသော်၊ သို့တည်းမဟုတ် ကျွန်ုပ်တို့၏မျှော်လင့်ချက်အရ အလ္လာဟ်အရှင်မြတ်သည် ကျွန်ုပ်နှင့်တကွ ကျွန်ုပ်၏တပည့်သားများကို သနားကြင်နာတော်မူ၍ အောင်မြင်စေတော်မူသည်ရှိသော်၊ အသို့ပင်ဖြစ်စေ အသင်တို့ အဖို့မှာကား မည်သို့မျှ အကျိုးမရှိပေ။ ဤပစ္စက္ခတွင် ကျွန်ုပ်တို့၏ အခြေအနေသည် အသို့ပင်ဖြစ်သည်ဖြစ်စေ နောင်တမလွန်ဘဝတွင်မူ အမှန်မုချ ကောင်းမည်ဖြစ်သည်။ ကျွန်ုပ်တို့သည် ထိုအတွက်ပင်ကြိုးပမ်းလျက်ရှိကြသည်။ အမှန်မှာ အသင်တို့သည် ကျွန်ုပ်တို့၏အရေးထက် မိမိတို့၏အရေးကို စဉ်းစားကြရပေမည်။ အသင်တို့သည် မိမိတို့သွေဖည်ဆန့်ကျင်မှုကြောင့် ပြစ်ဒဏ် မုချခံကြရပေမည်။ အသင်တို့၌ ပြစ်ဒဏ် သက်ရောက်လာသည့်အခါ အသင်တို့အား အသူ ကာကွယ်မည်နည်း။ ကာဖိရ်များအား အလ္လာဟ်အရှင်မြတ်၏ပြစ်ဒဏ်မှ အသူမျှ ကာကွယ်နိုင်သည်မရှိပေ။

(၁) တမန်တော်မြတ်အား ကာဖိရ်များကို ဆက်လက်ဖြေကြားစေတော်မူသည်မှာ အလ္လာဟ်အရှင်မြတ်သည် အတိုင်းမသိ သနားကြင်နာတော်မူသော ရှင်ဖြစ်တော်မူသည်။ ကျွန်ုပ်တို့သည် ထိုအရှင်မြတ်အား ယုံကြည်မြတ်နိုးကြသည်။ အရေးကိစ္စအဝဝတွင် ထိုအရှင်မြတ်အပေါ်၌သာလျှင် ယုံပုံလွှဲအပ်ထားကြသည်။ သို့ဖြစ်ရာ ထိုအရှင်မြတ်သည် ကျွန်ုပ်တို့အား နောင်တမလွန်ဘဝ၏ပြစ်ဒဏ်မှ လွတ်မြောက်စေတော်မူမည်။ ➤➤

## မင်တံကဏ္ဍ

سُورَةُ الْقَلَمِ

ဤကဏ္ဍသည် (ကလမ်) မင်တံကဏ္ဍမည်၏။ မက္ကာမြို့တော်၌ ကျရောက်ခဲ့၏။
ဤကဏ္ဍတွင်အာယတ်တော် (၅၂)ပါး၊ ရုကူအ်အပိုဒ် (၂)ပိုဒ် အသီးသီးပါရှိ၏။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ

ကရုဏာတော်ရှင်ဖြစ်တော်မူသော၊ အလွန်တရာ ကြင်နာသနားတော်မူသော အလ္လာဟ်အရှင်မြတ်၏ နာမံတော်ဖြင့် အစပြုပါ၏။

نٓ وَالْقَلَمِ وَمَا يَسْطُرُوْنَ ①

၁။ "နူန်" (ငါအရှင်မြတ်)သည် "ကလောင်"ကို လည်းကောင်း၊ ထို(ကောင်းကင်တမန်များ) ရေးမှတ်ကြ သည်တို့ကိုလည်းကောင်း၊ သက်သေထူတော်မူ၏၊ [၁]

مَآ اَنْتَ بِنِعْمَةِ رَبِّكَ بِمَجْنُوْنٍ ②

၂။ အသင်သည် အသင့်အား ဖန်ဆင်းမွေးမြူ တော်မူသောအရှင်မြတ်၏ ကျေးဇူးတော်ဖြင့် ရူးသွပ် သောသူ မဟုတ်ပေ။ [၂]

➤➤ ဤပစ္စက္ခ၏ ဘေးအန္တရာယ်များမှလည်း တစ်နည်းတစ်ဖုံ ကာကွယ်ပေးတော်မူပေမည်။ အို-ကာဖိရ် အပေါင်းတို့၊ အသင်တို့၌ ယုံကြည်မှုလည်းမရှိ၊ ယုံပုံလွဲအပ်မှုလည်းမရှိ၊ မည်သူလမ်းမှန်သည် မည်သူလမ်းမှား သည်ကို အသင်တို့သည် မကြာမီပင် သိကြရတော့မည်။

(၂) တမန်တော်မြတ်အား ကာဖိရ်များကို ဆက်လက်ပြောကြားစေတော်မူသည်မှာ အို-ကာဖိရ်အပေါင်းတို့ အသင်တို့ အမြဲတစေသောက်သုံးနေကြသော ရေသည် အကယ်တန္တိမြေတွင် စိမ့်ဝင်ခန်းခြောက်သွားသည် ရှိသော်၊ လိုအပ်သည့်ရေကို အသူ ဆောင်ကြဉ်းနိုင်အံ့နည်း။

(၁) **မင်တံတော်။**

ဤကဏ္ဍ၏အစတွင်ပါရှိသော "နူန်"ဟူသော အက္ခရာသည် (ဟုရူဖ်မုကတ္တဲတွအာတ်)ခေါ် သင်္ကေတ အက္ခရာစုများတွင် အပါအဝင်ဖြစ်သည်။ ယင်းသင်္ကေတအက္ခရာစုများ၏ တိကျမှန်ကန်သော အနက်အဓိပ္ပါယ်ကို အလ္လာဟ်အရှင်မြတ်သာလျှင် အသိတော်မူဆုံး ဖြစ်တော်မူပေသည်။

ဤအာယတ်တော်တွင်ပါရှိသော (ကလမ်)မင်တံဟူသည် အကြင်မင်တံတော်ကို ဆိုလိုသည်။ ယင်းမင်တံတော်ဖြင့် အလ္လာဟ်အရှင်မြတ်သည် အဖန်ဆင်းခံအပေါင်းတို့နှင့် စပ်လျဉ်းသည့်လျာထားချက်၊ စီမံချက်များကို 'လောင်ဟ်မဟ်ဖူဇ်'မှတ်တမ်းတော်တွင် ရေးမှတ်ထားတော်မူခဲ့သည်။

ဤအာယတ်တော်တွင် "ထိုသူများ ရေးမှတ်ထားကြသောအရာ"ဟူ၍ ပါရှိ၏။ ထိုသူများကား အသူများနည်း၊ ထိုအရာကား အဘယ်နည်း၊ ထိုသူများဟူသည်ကား လူသားတို့၏ အပြုအမူများကို ရေးမှတ်ကြ သော ကောင်းကင်တမန်များကို ဆိုလိုသည်။ "ထိုအရာ"ဟူသည်ကား လူသားတို့၏ အပြုအမူများနှင့် ➤➤

➤➤ စပ်လျဉ်း၍ ကောင်းကင်တမန်များ ရေးမှတ်ထားကြသည့် သက်ဆိုင်ရာမှတ်တမ်းများကို ဆိုလိုသည်။
ကြည့်-မဒါရိက် နစဖီ၊ မအာလင်မ်၊ ဒုရ်ရိမန်ဆူရ်၊ ထာနဝီ၊ မာဂျိဒီ။

(၂) တမန်တော်မြတ်သည် တမန်တော်ဂုဏ်ဖြင့် ချီးမြှင့်တော်မူခြင်းမခံရမီ အလျှင် မက္ကာမြို့တော်တွင်ပင် နေထိုင်တော်မူခဲ့၏။ မြို့သူမြို့သားအားလုံးတို့နှင့် ခင်မင်ရင်းနှီးစွာ ဆက်ဆံပေါင်းသင်းတော်မူခဲ့၏။ သားချင်းတို့အား အထူးထောက်ထားတော်မူခဲ့၏။ မရှိဆင်းရဲသူများအား ကြည့်ရှုတော်မူခဲ့၏။ သူတစ်ပါးတို့၏တာဝန်များကို ဆောင်ရွက်ပေးတော်မူခဲ့၏။ ညှော့ဝတ်ကျေပွန်တော်မူခဲ့၏။ ပြဿနာပေါ်က မှန်ကန်သည့်ဘက်မှ နေတော်မူခဲ့၏။ သစ္စာသမာဓိ လွန်စွာရှိတော်မူခဲ့၏။ "အမီန်"ဟူ၍ပင် မည်တွင်တော်မူခဲ့၏။ သို့အတွက် သားချင်းများနှင့်တကွ မြို့သူမြို့သားအားလုံးတို့၏ ယုံကြည်လေးစားမှုကို အထူးခံတော်မူခဲ့ရ၏။

သက်တော်(၄၀)ရှိ၍ တမန်တော်မြတ် ဂုဏ်ဖြင့် ချီးမြှင့်တော်မူခြင်းခံရပြီးနောက် အလ္လာဟ်အရှင်မြတ်၏ အာယတ်တော်များကို စတင် ဟောကြားတော် မူသည့်အခါ မက္ကာမြို့သား ကာဖိရ်များအဖို့ တမန်တော်မြတ်၏ စကားများသည် ယခင်နှင့်မတူ တမူထူးခြားနေခဲ့၏။ အသစ်အဆန်းဖြစ်နေခဲ့၏။ တမန်တော်မြတ်၏ဝါဒမှာ ၎င်းတို့၏ဝါဒနှင့် ဖြောင့်ဖြောင့်ကြီး ဆန့်ကျင်နေခဲ့၏။ ထိုအခါမက္ကာမြို့သား ကာဖိရ်မွတ်ရှ်ရစ်က်များက မပြောကောင်းမဆိုအပ် တမန်တော်မြတ်၌ ရူးသွပ်မှု ရောဂါဝေဒနာ စွဲကပ်နေပြီ၊ ရှိုင်တွာန်ပြုစားထားပြီ၊ ထို့အတွက် ယခုကဲ့သို့ စကားထူး စကားဆန်းများ ပြောဆိုနေခြင်းဖြစ်သည်ဟု ပြောဆိုခဲ့ကြ၏။

ဤအာယတ်တော်တွင် ယင်းသို့ မဟုတ်မမှန် လုပ်ကြံယိုးစွပ် ပြောဆိုခဲ့ကြသော ကာဖိရ်များအား ရည်ညွှန်း မိန့်ဆိုထားတော်မူသည်မှာ- အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်ဖြင့် တမန်တော်မြတ်၌ ရူးသွပ်မှုရောဂါဝေဒနာ အလျှင်းမရှိ။ တမန်တော်မြတ် အပေါ်၌ အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်များကား အတိုင်းမသိ များပြားလှဘိ၏။

ဥပမာ- တမန်တော်မြတ် ဟောကြားတော်မူသည့် တရားတော်များသည် လျော်ကန်သင့်မြတ်လှ၏။ မှန်ကန်တိကျလှ၏။ စာပေအဆင့်အတန်း မြင့်မားလှ၏။ ပြိုင်ဘက် ယှဉ်ဘက်ကင်းလှ၏။ အနက်အဓိပ္ပာယ် ထိမိလှ၏။ တမန်တော်မြတ်၏ အကျင့်သီလ၊ သိက္ခာသမာဓိများမှာလည်း အတိုင်းမသိ မြင့်မြတ်လှ၏။ တမန်တော်မြတ်၏ ကိုယ်ကျင့်တရားများသည် ရိုးသားဖြူစင်လှ၏။ သက်တမ်း တစ်လျှောက်လုံးတွင် "မှဲ့စွန်း"ဟူ၍ အလျှင်းမရှိခဲ့ပေ။ ယင်းသို့သော ဂုဏ်အင်ဒြပ်များနှင့် ပြည့်စုံတော်မူသော တမန်တော်မြတ်အား ရူးသွပ်သူဟူ၍ ယိုးစွပ်ပြောဆိုသူများသည် အမှန်မှာ ၎င်းတို့ကိုယ်တိုင် ရူးသွပ်သူများဖြစ်ခြင်းကြောင့်ပင် ဖြစ်ပေသည်။ ဤကား အထူးအဆန်းမဟုတ်ပေ။ အတိတ်ခေတ်များတွင် အလွန်ကျော်ကြားခဲ့ကြသည့် တမန်တော်ကြီးများအားပင် အစပထမတွင် သက်ဆိုင်ရာအမျိုးသားတို့က ယင်းသို့ပင် ယိုးစွပ်ပြောဆိုခဲ့ကြလေသည်။

ဤသည် ကမ္ဘာသမိုင်းစဉ်တွင် အထင်အရှားပင်။ သို့ရာတွင် ဤတွင် သိထားအပ်သည့် အချက်တစ်ရပ်မှာ မပြောသင့်မပြောအပ်၊ သူမွန်သူမြတ်တို့အား ကဲ့ရဲ့ပြစ်တင် ယိုးစွပ်ပြောဆိုခဲ့ကြသော လူရှုပ်လူပွေများသည် ကမ္ဘာသမိုင်းစဉ်တွင် အပျောက်ကြီး ပျောက်ကွယ်သွားခဲ့ကြချေပြီ။ ကဲ့ရဲ့ပြစ်တင်ခြင်းခံခဲ့ကြရသော သူမွန်သူမြတ်တို့မှာကား ကမ္ဘာသမိုင်းစဉ်တွင် အထင်အရှားပင်၊ ယခင်ကလည်းဤနည်း၊ ယခုလည်း ဤနှယ်၊ နောင်လည်း ကမ္ဘာတည်သရွေ့ ဤသို့ ထင်ရှားနေမည်သာ။ အထူးသဖြင့်အလ္လာဟ်အရှင်မြတ်ကိုယ်တော်တိုင် "လောင်ဟ်မဟ်ဖူဇ်" မှတ်တမ်းတော်တွင် မိမိ၏(ကလမ်)မင်တံတော်ဖြင့် အထူးဆုံး အမြတ်ဆုံး တမန်တော်မြတ် အဖြစ် မှတ်တမ်းတင်တော်မူခြင်း ခံခဲ့ရသော တမန်တော်မြတ်၏ဂုဏ်သိက္ခာသည် လူရှုပ်လူပွေတစ်စု၏ ကဲ့ရဲ့ပြစ်တင်မှုကြောင့် အသို့လျှင် ညှိုးနွမ်းနိုင်အံ့နည်း။

وَإِنَّ لَكَ لَأَجۡرًا غَيۡرَ مَمۡنُونٖ ③

၃။ ငှင်းပြင် ဧကန်စင်စစ် အသင့်အဖို့ မကုန်ဆုံးနိုင်သော အကျိုးကျေးဇူးသည်ရှိ၏။

وَإِنَّكَ لَعَلَىٰ خُلُقٍ عَظِيمٖ ④

၄။ ထိုမှတစ်ပါး မလွဲဧကန် အသင်သည် ထူးကဲမြင့်မြတ်လှစွာသော သဘောသကန် အကျင့်စာရိတ္တ ပေါ်၌ရှိနေ၏။ ၁

فَسَتُبۡصِرُ وَيُبۡصِرُونَ ⑤

၅။ သို့ဖြစ်ပေရာ မကြာမြင့်မီပင် အသင်သည်လည်း မြင်ရပေမည်၊ ၎င်းတို့သည်လည်း မြင်ကြရပေမည်။

بِأَييِّكُمُ ٱلۡمَفۡتُونُ ⑥

၆။ အသင်တို့အနက် မည်သူ၌ ရူးသွပ်ခြင်း ဝေဒနာ ရှိနေသည်ကို၊

---

(၁) အလ္လာဟ်အရှင်မြတ်၏ကျေးဇူးတော်ဖြင့် တမန်တော်မြတ်သည် အလွန်ကောင်းမွန်မြင့်လှသော ကိုယ်ကျင့်တရားများနှင့် ပြည့်စုံတော်မူခဲ့ပေသည်။ ယင်းသို့ ကောင်းမွန်မြင့်မြတ်လှသော ကိုယ်ကျင့်တရားများသည် သူရူးများတွင် အဘယ်မှာလျှင် ရှိနိုင်အံ့နည်း။ သူရူးတစ်ယောက်၏စကားသည် ရှေ့နောက်မညီပေ။ သူရူးတစ်ယောက်၏ အပြောအဆိုနှင့် အကျင့်အမူသည်လည်း အဆင်ပြေသည်မရှိပေ။ တမန်တော်မြတ် ဟောကြားတော်မူသည့် တရားတော်မှာ ကုရ်အာန်ကျမ်းမြတ်ပင်ဖြစ်သည်။ တမန်တော်မြတ်၏ အကျင့်အမူနှင့် ကိုယ်ကျင့်တရားများသည် တစ်နည်းအားဖြင့် ကုရ်အာန်ကျမ်းမြတ်၏အဖွင့်ပင် ဖြစ်သည်။ ကုရ်အာန်ကျမ်းမြတ်က လိုလားသော ကောင်းမှုများသည်လည်း တမန်တော်မြတ်၏ မူလဗီဇ၌ပင် ရှိနေခဲ့ပေသည်။ ကုရ်အာန်ကျမ်းမြတ်က မလိုလားသော မကောင်းမှုများကိုလည်း တမန်တော်မြတ်သည် မူလဗီဇသဘာဝအလျောက်ပင် စက်ဆုပ်ရွံ့မုန်းပြီး ဖြစ်တော်မူခဲ့ပေသည်။ တမန်တော်မြတ်သည် တည့်မတ်မှန်ကန် ဖြောင့်မတ်ဖြူစင်သော သဘာဝကို အမိဝမ်းတွင်းမှပင် ရရှိလာတော်မူခဲ့သည်ဖြစ်ရာ၊ တမန်တော်မြတ်၏ တွေးခေါ်မှု၊ ပြောမှု၊ ဆိုမှု၊ ပြုကျင့်မှု၊ လှုပ်ရှားမှု အစုစုတို့သည် လျော်ကန် သင့်မြတ်မှု၊ မျှတမှု၊ မှန်ကန်မှုတည်းဟူသော (မဇ္ဈိမပဋိပဒါ)လမ်းကြောင်းမှ ဘယ်သောအခါမှ အနည်းငယ်စိုးစဉ်းမျှပင် တိမ်းယိမ်းသည်ဟူ၍ အလျှင်းမရှိပေ။ ယင်းသို့သော ကိုယ်ကျင့်တရားများနှင့် ပြည့်စုံတော်မူသည့်အတွက်ကြောင့်ပင် တမန်တော်မြတ် မိမိအား အကြောင်းမဲ့ ကဲ့ရဲ့ပြစ်တင်ရှုတ်ချ ပြောဆိုသူများ၏ စကားများကို ဂရုစိုက်တော်မမူခဲ့ပေ။ ထို့မျှမက တမန်တော်မြတ်သည် မိမိအား ယင်းသို့ မကောင်းပြောဆိုသူများကိုပင် သနားကြင်နာတော်မူခဲ့ပေသည်။ ၎င်းတို့၏ ကောင်းစားရေးကို အခါခပ်သိမ်း လိုလားတော်မူခဲ့ပေသည်။ ကြည့်-ကုရ်အာန်(၁၈း၆။ ၂၆း၃)။ တမန်တော်မြတ်၏ စိတ်နေသဘောထား ကိုယ်ကျင့်တရားများကား ကောင်းမွန်မြင့်မြတ်လှပါဘိတကား။ ယင်းသို့သော တမန်တော်မြတ်၌ မပြောအပ် မဆိုအပ် ရူးသွပ်မှုရောဂါဝေဒနာ စွဲကပ်လျက်ရှိသည်ဟု ပြောရက်ဆိုရက်သောသူများမှာ ၎င်းတို့ ကိုယ်တိုင်၌ ရူးသွပ်မှုရောဂါဝေဒနာ စွဲကပ်လျက်ရှိကြောင်း ထုတ်ဖော်ကြေညာခြင်းသာ ဖြစ်သည်။

إِنَّ رَبَّكَ هُوَ أَعْلَمُ بِمَن ضَلَّ عَن سَبِيلِهِۦ وَهُوَ أَعْلَمُ بِٱلْمُهْتَدِينَ ⑦

၇။ စင်စစ်ကေန် အသင့်အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်သည်ပင် ထိုအရှင်မြတ်၏ လမ်းတော်မှ ချွတ်ချော်တိမ်းပါးခဲ့သောသူအား အသိတော်မူဆုံး ဖြစ်တော်မူ၏။ ထိုနည်းတူ ထိုအရှင်မြတ်သည်ပင်လျှင် တရားလမ်းမှန်ကို ရရှိကြသောသူတို့အား အသိတော်မူဆုံး ဖြစ်တော်မူပေသတည်း။ ①

فَلَا تُطِعِ ٱلْمُكَذِّبِينَ ⑧

၈။ သို့ဖြစ်ပေရာ (အို-နဗီတမန်တော်) အသင်သည် မဟုတ်မမှန်ဟူ၍ စွပ်စွဲငြင်းပယ်သောသူတို့၏ စကားကို နားမထောင်ပါလေနှင့်။

وَدُّوا۟ لَوْ تُدْهِنُ فَيُدْهِنُونَ ⑨

၉ ။ ၎င်းတို့သည် အကယ်၍ အသင် အလျှော့ပေး လိုက်လျောပါလျှင် ၎င်းတို့သည် အလျှော့ပေး လိုက်လျောလိုကြကုန်၏။

وَلَا تُطِعْ كُلَّ حَلَّافٍ مَّهِينٍ ⑩

၁၀။ ထိုမှတစ်ပါး အသင်သည် မည်သည့် လွန်စွာ (မှသား)ကျိန်တွယ်သောသူ၏စကားကိုမျှ နားမထောင်လေနှင့်၊ အကြင်သူသည် ဂုဏ်ရည်သေးသိမ်သူ၊

هَمَّازٍ مَّشَّآءٍۭ بِنَمِيمٍ ⑪

၁၁။ လွန်စွာ စောင်းချိတ်ကဲ့ရဲ့သူ၊ လွန်စွာ ကုန်းချောသူ။

مَّنَّاعٍ لِّلْخَيْرِ مُعْتَدٍ أَثِيمٍ ⑫

၁၂။ ကောင်းမှုကို လွန်စွာတားမြစ်သူ၊ စည်းကမ်းကျူးလွန်သူ၊ လွန်စွာ အပြစ်ကျူးလွန်သူ။

عُتُلٍّۭ بَعْدَ ذَٰلِكَ زَنِيمٍ ⑬

၁၃။ လွန်စွာ ကြမ်းကြုတ် အနိုရာယ်ပြုသူ၊ ထိုမှတစ်ပါး မျိုးရိုး မစစ်သောသူဖြစ်၏။

① ဆိုလိုသည်ကား-မည်သူ မည်ဝါတို့သည် အလ္လာဟ်အရှင်မြတ်၏ တရားလမ်းမှ တိမ်းယိမ်းသွေဖည်သွားကြမည်။ မည်သူမည်ဝါတို့သည် ထိုအရှင်မြတ်၏ တရားလမ်းပေါ်၌ ရပ်တည်နေကြမည်ကို အလ္လာဟ်အရှင်မြတ် အသိဆုံးဖြစ်တော်မူသည်။ သို့သိတော်မူသည့်အလျောက် အသီးသီးတို့အား ထိုက်သည့်အားလျော်စွာ ကျိုး-ပြစ် ပေးတော်မူမည်သာဖြစ်သည်။ သို့ဖြစ်ရာ အဆုံးအဖြတ်ကို အလ္လာဟ်အရှင်မြတ်အပေါ်၌သာ လွှဲအပ်ထားရသည်။ ကြည့်-မာဂျိဒီ။

اَنۡ كَانَ ذَا مَالٍ وَّبَنِيۡنَ ﴿١٤﴾

၁၄။ ထိုသူသည် ပစ္စည်းရှင်၊ သားသမီးရှင် ဖြစ်သောကြောင့်။ ၁

---

① ဆိုလိုသည်ကား တရားလမ်းမှန်ကို လက်ခံမည့်သူ၊ သွေဖည်မည့်သူ အားလုံးကို အလ္လာဟ်အရှင်မြတ် သိတော်မူသည်။ သို့ဖြစ်ရာ တမန်တော်မြတ်သည် တရားဟောကြားရာတွင် မည်သူ့အားမျှ ထောက်ထားငဲ့ကွက်တော်မူရန် မလိုပေ။

မက္ကာမြို့သား ကာဖိရ်များက တမန်တော်မြတ်အား အသင်သည် ရုပ်တုကိုးကွယ်မှုနှင့် စပ်လျဉ်း၍ ပြင်းထန်စွာ ဝေဖန်ပြောဆိုမှုကို စွန့်လွှတ်ပါလျှင်၊ ကျွန်ုပ်တို့၏ကိုးကွယ်ရာကို မတိုက်ခိုက်ပါလျှင် ကျွန်ုပ်တို့သည်လည်း အသင်၏ကိုးကွယ်ရာဖြစ်သော အလ္လာဟ်အရှင်မြတ်အားလည်း လေးစားကြပါမည်။ အသင်၏ လမ်းစဉ်ကိုလည်း ဆန့်ကျင်ကြမည်မဟုတ်ပါဟု ပြောဆိုခဲ့ကြ၏။

တမန်တော်မြတ်သည် တမန်တော်များလောက တွင် နောက်ဆုံးနှင့်အကြီးဆုံး တမန်တော်ဖြစ်သည်။ ကိုယ်ကျင့်တရားနှင့် စိတ်နေသဘောထားလည်း အတိုင်းမသိ ကောင်းမွန်မြင့်မြတ်လှသည်။ သူတစ်ပါးအပေါ်၌ အလွန်မေတ္တာထားတော်မူသည်၊ သူတစ်ပါး၏ ကောင်းစားရေးကို အထူးလိုလားတော်မူသည်။ ယင်းသို့သော ဂုဏ်ရည်များနှင့် ပြည့်စုံတော်မူသော တမန်တော်မြတ်အဖို့ ကာဖိရ်များက မိမိအား အထက်ပါအတိုင်း ပြောဆိုလာကြသည့်အခါ၊ ကောင်းမြတ်သောစေတနာဖြင့် အနည်းငယ် လျှော့ပေး လိုက်ခြင်းဖြင့် မိမိ၏လုပ်ငန်း အောင်မြင်သည်ဖြစ်ရာ၊ စိုးရိမ်ဖွယ်မရှိဟူ၍ အတွေးပေါက်စရာ ဖြစ်နိုင်ပေသည်။

ထို့အတွက် ဤအာယတ်တော်တွင် အလ္လာဟ်အရှင်မြတ်က တမန်တော်မြတ်အား ကာဖိရ်များသည် ရိုးသားစွာ ပြောဆိုနေကြသည်မဟုတ်ကြောင်း၊ အမှန်တရားကိုလည်း လက်ခံကြမည်မဟုတ်ကြောင်း၊ ပရိယာယ်ဖြင့် ဘမန်တော်မြတ်၏ ဟောကြားမှုကို လျော့ရဲဖြစ်စေလိုကြသည်သာဖြစ်ကြောင်း၊ ၎င်းတို့၏စကားကို မေ့မှား၍မျှ မလိုက်နာအပ်ကြောင်း သတိပေးထားတော်မူခြင်း ဖြစ်ပေသည်။

အချို့ ကာဖိရ်များသည် မိမိတို့၏စကားကို တစ်ဖက်သားအား ယုံကြည်လက်ခံစေရန်အတွက် မသားကျိန်ဆိုလေ့ရှိကြသည်၊ ကျိန်ဆိုပြီးနောက် အလိမ်ပေါ်သည့်အတွက် မကြာခဏအရှက်တကွဲ ဖြစ်လေ့ရှိကြသည်၊ တဖက်သားအားကဲ့ရဲ့ ပြစ်တင်ပြောဆိုလေ့ရှိသည်။ ကုန်းချောလေ့ရှိကြသည်၊ မိမိတို့ကိုယ်တိုင် ကောင်းမှုတစ်စုံတစ်ရာ မပြုကြသည်သာမက သူတစ်ပါးတို့အားလည်း ကောင်းမှုပြုခြင်းမှ ပိတ်ပင်တားဆီးလေ့ရှိကြသည်၊ စည်းကမ်းကျူးလွန်လေ့ရှိကြသည်၊ ပြစ်မှုကျူးလွန်လေ့ရှိသည်။ စိတ်ဓာတ်ခဲယဉ်းကြသည်၊ ထို့မျှမက ဖ-မစစ် ဖြစ်လေ့ရှိကြသည်။

ယင်းသို့သော ကာဖိရ်များသည် ဥစ္စာဓနဂုဏ် သားသမီးဂုဏ်မောက်၍ ဝင့်ဝါလေ့ ရှိကြသည်။ ယင်းသို့ ကိုယ်ကျင့်တရားပျက်ပြားနေသော ကာဖိရ်များ၏စကားကို မေ့မှား၍မျှ နားမထောင်ရန် အလ္လာဟ်အရှင်မြတ်သည် တမန်တော်မြတ်အား သတိပေးထားတော်မူသည်။

ဤအာယတ်တော်သည် ကိုယ်ကျင့်တရားပျက်ပြားလျက်ရှိသော ယုတ်မာသိမ်ဖျင်းသော ကာဖိရ်တိုင်းနှင့် သက်ဆိုင်သည်။ အချို့(ရိဝါယတ်) ကျမ်းချက်များအရ ဤအာယတ်တော်သည် ဝလီဒ်ဗ်နမုဃီရဟ် အမည်ရှိသော ကာဖိရ်နှင့်ပတ်သက်၍ ကျရောက်လာခဲ့ပေသည်။ ယင်းကာဖိရ်၌ အထက်ဖော်ပြပါအကျင့်များသည် အပြည့်အဝ ရှိနေခဲ့ပေသည်။ ကြည့်-မာဂျိဒီ။

إِذَا تُتْلَىٰ عَلَيْهِ ءَايَٰتُنَا قَالَ أَسَٰطِيرُ ٱلْأَوَّلِينَ ﴿١٥﴾

၁၅။ ၎င်း၏ရှေ့ဝယ် ငါအရှင်မြတ်၏ အာယတ်တော်များ ဖတ်ကြားခြင်းခံရသောအခါ ၎င်းက (ဤသည်တို့မှာ) ရှေးသူဟောင်းတို့၏ ယုံတမ်းစကားများ ဖြစ်သည်ဟု ပြောဆို၏။

سَنَسِمُهُۥ عَلَى ٱلْخُرْطُومِ ﴿١٦﴾

၁၆။ မကြာမြင့်မီပင် ငါအရှင်မြတ်သည် ၎င်း၏ နှာခေါင်းပေါ်ဝယ် တံဆိပ် ခတ်နှိပ်တော်မူအံ့သတည်း။

إِنَّا بَلَوْنَٰهُمْ كَمَا بَلَوْنَآ أَصْحَٰبَ ٱلْجَنَّةِ إِذْ أَقْسَمُوا۟ لَيَصْرِمُنَّهَا مُصْبِحِينَ ﴿١٧﴾

၁၇။ ကေန်စင်စစ် ငါအရှင်မြတ်သည် ဥယျာဉ်ရှင်များအား စမ်းသပ်တော်မူဘိသကဲ့သို့ပင်၊ ၎င်းတို့အား စမ်းသပ်တော်မူခဲ့၏။ တစ်ရံရောအခါဝယ် ထိုဥယျာဉ်ရှင်တို့က မလွဲကေန် ၎င်းတို့သည် နံနက်စောစော သွားကြလျက် ယင်းဥယျာဉ်၏အသီးများကို ဆွတ်ခူးကြမည်ဟု ကျိန်ဆိုခဲ့ကြကုန်၏။

وَلَا يَسْتَثْنُونَ ﴿١٨﴾

၁၈။ သို့ရာတွင် ၎င်းတို့သည် (ယင်းသို့ကျိန်ဆိုရာ၌) "အင်န်ရှာအလ္လာဟ်" "အလ္လာဟ်အရှင်မြတ်အလိုတော်ရှိတော်မူပါလျှင်" ဟူ၍ ခြွင်းချက်ထားရှိခြင်း မပြုခဲ့ကြပေ။

فَطَافَ عَلَيْهَا طَآئِفٌ مِّن رَّبِّكَ وَهُمْ نَآئِمُونَ ﴿١٩﴾

၁၉။ သို့ဖြစ်ပေရာ၊ ၎င်းတို့ အိပ်ပျော်နေကြစဉ် အသင့်အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်၏ အထံတော်မှ လှည့်ပတ်သောအရာ (ဝါ) မီးဘေးသည် ယင်းဥယျာဉ်ပေါ်ဝယ် လှည့်ပတ်ခဲ့လေ၏။

فَأَصْبَحَتْ كَٱلصَّرِيمِ ﴿٢٠﴾

၂၀။ သို့ဖြစ်ပေရာ နံနက်အချိန်တွင် ယင်းဥယျာဉ်မှာ ဆွတ်ခူး ရိတ်ဖြတ်ပြီးသကဲ့သို့ပင် ဖြစ်သွားခဲ့လေ၏။

فَتَنَادَوْا۟ مُصْبِحِينَ ﴿٢١﴾

၂၁။ ထိုနောက် ၎င်းတို့သည် နံနက်စောစော ထကြလျက် တစ်ဦးက တစ်ဦးအား ဟစ်ခေါ်ခဲ့ကြ၏။

أَنِ اغْدُوا عَلَىٰ حَرْثِكُمْ إِن كُنتُمْ صَارِمِينَ ﴿٢٢﴾

၂၂။ "အသင်တို့သည် အကယ်၍ အသီးများကို ဆွတ်ခူးလိုကြပါက မိမိတို့၏ လယ်ယာဥယျာဉ်သို့ စောစောသွားကြလေကုန်"

فَانطَلَقُوا وَهُمْ يَتَخَافَتُونَ ﴿٢٣﴾

၂၃။ ထို့နောက် ၎င်းတို့သည် မိမိတို့အချင်းချင်း တီးတိုးစကားပြောဆိုလျက် ထွက်ခွာသွားခဲ့ကြ၏။

أَن لَّا يَدْخُلَنَّهَا الْيَوْمَ عَلَيْكُم مِّسْكِينٌ ﴿٢٤﴾

၂၄။ အသင်တို့ထံ ယင်းဥယျာဉ်တွင် ယနေ့ သူဆင်းရဲ တစ်ဦးတစ်ယောက်မျှပင် ဝင်ရောက်ခြင်း မရှိရဟူ၍၊

وَغَدَوْا عَلَىٰ حَرْدٍ قَادِرِينَ ﴿٢٥﴾

၂၅။ ထို့ပြင် ၎င်းတို့သည် (မိမိတို့ကိုယ်ကိုမိမိတို့) မပေးဘဲ နေနိုင်စွမ်းရှိကြမည်ဟု ထင်မှတ်လျက် စောစော သွားရောက်ခဲ့ကြလေ၏။

فَلَمَّا رَأَوْهَا قَالُوا إِنَّا لَضَالُّونَ ﴿٢٦﴾

၂၆။ သို့ရာတွင် ၎င်းတို့သည် ယင်းဥယျာဉ်ကို မြင်တွေ့ကြလေသောအခါ (ဤသို့)ပြောဆိုကြလေ၏။ ဧကန်စင်စစ် ကျွန်ုပ်တို့သည် လမ်းမှားခဲ့ကြလေပြီ။

بَلْ نَحْنُ مَحْرُومُونَ ﴿٢٧﴾

၂၇။ ထိုသို့ အလျှင်းမဟုတ်၊ စင်စစ်မှာကား ကျွန်ုပ်တို့သည် အကြောင်းမလှသူများ၊ လက်မဲ့ဖြစ်စေခြင်း ခံကြရသူများ၊ ဖြစ်ကြရလေပြီ။

قَالَ أَوْسَطُهُمْ أَلَمْ أَقُل لَّكُمْ لَوْلَا تُسَبِّحُونَ ﴿٢٨﴾

၂၈။ ၎င်းတို့အနက် အလယ်အလတ်၊ အကောင်းဆုံး၊ ဖြစ်သူက "ကျွန်ုပ် အသင်တို့အား (စောစောကပင် သတိပေးစကား) ပြောကြားခဲ့သည်မဟုတ်လော။ (သို့ဖြစ်ပေရာ ယခု) အသင်တို့သည် မည်သည့်အတွက်ကြောင့် (အလ္လာဟ်အရှင်မြတ်) စင်ကြယ်သန့်ရှင်းတော်မူကြောင်း မြွက်ဆိုခြင်းမပြုကြပါသနည်း" ဟု ပြောဆိုခဲ့လေ၏။

قَالُوا سُبْحٰنَ رَبِّنَآ اِنَّا كُنَّا ظٰلِمِيْنَ ﴿٢٩﴾

၂၉။ (ထိုအခါ) ၎င်းတို့က ကျွန်တော်မျိုးတို့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်သည် စင်ကြယ်သန့်ရှင်းတော်မူပါ၏။ ဧကန်မလွဲ ကျွန်တော်မျိုးတို့သည်သာလျှင် မတရားသောသူများ ဖြစ်ကြပါသည်ဟု မြွက်ဆိုခဲ့ကြကုန်၏။

فَاَقْبَلَ بَعْضُهُمْ عَلٰى بَعْضٍ يَّتَلَاوَمُوْنَ ﴿٣٠﴾

၃၀။ ထို့နောက် ၎င်းတို့သည် မိမိတို့အချင်းချင်း တစ်ဦးကတစ်ဦးအား ပြစ်တင်ကဲ့ရဲ့ ရှုတ်ချလျက် တစ်ဦးဘက်သို့တစ်ဦး လှည့်ခဲ့လေ၏။

قَالُوْا يٰوَيْلَنَآ اِنَّا كُنَّا طٰغِيْنَ ﴿٣١﴾

၃၁။ (ထို့နောက်) ၎င်းတို့(အားလုံးသည်) (ဤသို့) ပြောဆိုခဲ့ကြကုန်၏။ သြော်-ကျွန်ုပ်တို့ ဖြစ်ရလေခြင်း၊ ဧကန်အမှန် ကျွန်ုပ်တို့သည်ပင် ဆိုးသွမ်းသူများ ဖြစ်ခဲ့ကြကုန်၏။

عَسٰى رَبُّنَآ اَنْ يُّبْدِلَنَا خَيْرًا مِّنْهَآ اِنَّآ اِلٰى رَبِّنَا رٰغِبُوْنَ ﴿٣٢﴾

၃၂။ ကျွန်ုပ်တို့အား ဖန်ဆင်း မွေးမြူတော်မူသော အရှင်မြတ်သည် ကျွန်ုပ်တို့အား ယင်းဥယျာဉ်ထက် ကောင်းမြတ်သော ဥယျာဉ်ကို လဲလှယ်အစားပေးတော်မူတန်ရာ၏။ စင်စစ်ဧကန် ကျွန်ုပ်တို့သည် မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်ဘက်သို့ ပြန်လှည့်သူများ ဖြစ်ကြကုန်၏။ [၁]

(၁) <u>ဆင်းရဲသားများအား မပေးကမ်းလိုသော ဥယျာဉ်ရှင်များ၏ဖြစ်အင်။</u>

ဆိုလိုသည်ကား အလ္လာဟ်အရှင်မြတ်သည် မက္ကာမြို့သား မွတ်ရှ်ရစ်က်များအား အနည်းငယ် လောကီစည်းစိမ် ပေးသနားထားတော်မူခြင်းမှာ ယခင်က ဥယျာဉ်ရှင်များအား စမ်းသပ်တော်မူခဲ့သည့်အလား ကျေးဇူးသိတတ်ကြသည် မသိတတ်ကြသည်ကို စမ်းသပ်တော်မူရန်ပင်ဖြစ်သည်။

ဤအာယတ်တော်တွင်ပါရှိသော ဥယျာဉ်ရှင်များကား အသူများနည်း၊ အချို့က ယင်းဥယျာဉ်ရှင်များသည် (ဟဗရှဟ်)Abyssinia အီသီယိုပီးယားနိုင်ငံမှ ဖြစ်ကြသည်ဟု ဆိုကြသည်။ ကြည့်-ဣဗ်နုကဆီရ်။ အချို့က ယင်းဥယျာဉ်ရှင်များသည် ယမန် Yemenနိုင်ငံမှ ဖြစ်ကြသည်ဟုဆိုကြသည်။ ကြည့်-မအာလင်မ်။ အချို့ကမူ ယင်းဥယျာဉ်ရှင်များသည် "ဆွာန်အာ"မြို့နှင့် (၆)မိုင်အကွာတွင်တည်ရှိသည့် "ဒွရ်ဝါန်" မြို့မှ ဖြစ်ကြသည်ဟုဆိုကြသည်။ ကြည့်-ဣဗ်နုကဆီရ်။

အသို့ပင်ရှိစေ အတိတ်ခေတ်တွင် ဥယျာဉ်တစ်ခုကို ဖခင်ထံမှ အမွေဆက်ခံရရှိထားခဲ့ကြသော ➢➢

كَذٰلِكَ الْعَذَابُ ۚ وَلَعَذَابُ الْاٰخِرَةِ اَكْبَرُ ۘ لَوْ كَانُوْا يَعْلَمُوْنَ ﴿٣٣﴾

၃၃။ ပြစ်ဒဏ်မှာ ထိုနည်းအတိုင်း ဖြစ်လေ့ဖြစ်ထရှိ၏။ "အာခိရတ်"တမလွန်ဘဝ၏ပြစ်ဒဏ်မှာမူကား ပိုမို၍ပင် ကြီးလေးလှ၏။ (ဤသည်ကို) ၎င်းတို့ သိရှိကြလျှင် ကောင်းလေစွတကား။

---

➤➤ ညီနောင်များရှိခဲ့ကြ၏။ အဆိုပါဥယျာဉ်သည် စိုပြည်သာယာလှ၏။ ယင်းဥယျာဉ်မှ ထွက်သောသီးနှံများကို အကြောင်းပြု၍ အဆိုပါညီနောင်များ၏ စားဝတ်နေရေးသည် သာယာလျက်ရှိခဲ့၏။ ဖခင်ကြီးလက်ထက်၌ ဥယျာဉ်မှ သီးနှံများကို ဆွတ်ခူးသည့်နေ့တွင် လယ်ယာရိတ်သိမ်းသည့်နေ့တွင် မြို့တွင်းရှိ ဆင်းရဲသူဆင်းရဲသားများကို နည်းများမဆို ပေးကမ်းလှူဒါန်းလေ့ရှိခဲ့၏။ သို့ ပေးကမ်းလှူဒါန်းသည့် အကျိုးကြောင့် ဥယျာဉ်၌ မင်္ဂလာလည်းရှိနေခဲ့၏။ ဖခင်ကြီး သေဆုံးသွားသည့်အခါ ကျန်ရစ်သောသားသမီးများသည် ဖခင်ကြီးကဲ့သို့ ဥယျာဉ်ထွက်သီးနှံများကို ဆင်းရဲသားများအား မပေးကမ်းလိုခဲ့ကြပေ၊ ဥယျာဉ်ထွက်သီးနှံအားလုံးကို မိမိတို့သာလျှင် သိမ်းပိုက်လိုခဲ့ကြ၏။ ထို့အတွက် ဤအာယတ်တော်တွင် ပါရှိသည့်အတိုင်း ဆင်းရဲသားများအား အသိမပေးဘဲ နံနက်စောစောထ၍ တိတ်တဆိတ်သီးနှံ ဆွတ်ခူးရန် လျှို့ဝှက်တိုင်ပင်ဆုံးဖြတ်ခဲ့ကြ၏။

ယင်းသို့ တိုင်ပင်ဆုံးဖြတ်ရာတွင် မိမိတို့၏ အကြံအစည်ကို အဘယ်မျှအလေးပေးခဲ့ကြသည်ဆိုသော်၊ ၎င်းတို့သည် "အင်ရှာအလ္လာဟ်" "အလ္လာဟ်အရှင်မြတ် အလိုရှိတော်မူပါသော်"ပင်မဆိုခဲ့ကြပေ၊ ခြွင်းချက်မထားခဲ့ကြပေ။ ယင်းသို့ အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်ကို မေ့ကြသည့်အခါ၊ လောဘရမ္မက် ကြီးထွားလာကြသည့်အခါ လွန်စွာစေးနှဲကာ ဆင်းရဲသားများ၏ အခွင့်အလမ်းကို ပိတ်ပင်လိုကြသည့်အခါ၊ ၎င်းတို့အိပ်စက်နေချိန် အလ္လာဟ်အရှင်မြတ်ထံတော်မှ လောင်မီးကျ၍ ၎င်းတို့၏ဥယျာဉ်သည် မရှုမလှ ပျက်စီးသွားခဲ့လေသည်။

အဆိုပါညီနောင်များသည် မိမိတို့အကြံအစည်အတိုင်း သီးနှံဆွတ်ခူးရန် နံနက်စောစောထ၍ ဥယျာဉ်သို့ သွားကြသောအခါ ပျက်စီးနေသောဥယျာဉ်ကို တွေ့မြင်ခဲ့ကြ၏။ ပထမသော် ဤသည်ငါတို့၏ဥယျာဉ် မဟုတ်နိုင်၊ ငါတို့သည် လမ်းမှားနေကြသည်ဟူ၍ပင် ထင်မှတ်နေခဲ့ကြ၏။ ထို့နောက် သေချာဂနစွာကြည့်သောအခါ မိမိတို့၏ဥယျာဉ်ပင်ဖြစ်ကြောင်း၊ လောင်မီးကျ၍ ပျက်စီးနေကြောင်း သိရှိခဲ့ကြ၏၊ ထိုအခါ "ငါတို့သည် လက်မဲ့ဖြစ်ကြရလေပြီ" ဟုဆိုကာ ဝမ်းနည်းကြ၏။

အဆိုပါညီနောင်များတွင် အမြော်အမြင်ရှိသော၊ သမ္မာစိတ်ရှိသော ညီနောင်တစ်ဦးက အလ္လာဟ်အရှင်မြတ်အား မမေ့ကြရန်၊ ဆင်းရဲသားများအား လျစ်လျူပြုမထားကြရန် သတိပေးခဲ့သေး၏။ သို့သတိပေးခဲ့သော်လည်း မည်သူတစ်ဦးတစ်ယောက်ကမျှ ဂရုမမူခဲ့ပေ။ နောက်ဆုံးတွင် လောင်မီးသင့်၍ ဥယျာဉ်ပျက်စီးသွားသောအခါ အဆိုပါညီနောင်က မိမိ၏ သတိပေးချက်ကို ပြန်လည်ပြောပြခဲ့လေသည်။

ဆက်လက်၍ အဆိုပါညီနောင်က ကျန်ညီနောင်များအား အလ္လာဟ်အရှင်မြတ်ထံတော်၌ ဝန်ချတောင်းပန် အသနားခံရန် ထပ်မံပြောကြားသောအခါ၊ ညီနောင်များသည် ဤအာယတ်တော်တွင်လာရှိသည့်အတိုင်း ဝန်ချတောင်းပန် အသနားခံခဲ့ကြလေသည်။

အဆိုပါတစ်ရပ်အရ ယင်းသို့ ဝန်ချတောင်းပန် အသနားခံကြသည့်အခါ အလ္လာဟ်အရှင်မြတ်သည် မိမိ၏ကျေးဇူးတော်ဖြင့် ယင်းညီနောင်များအား ယခင်ဥယျာဉ်ထက်ပင် ကောင်းမွန်သော ဥယျာဉ်တစ်ခုကို ချီးမြှင့်တော်မူခဲ့ပေသည်။ ကြည့်-မဒါရိက်။

၃၄။ ကေန်အမှန် "မွတ္တကီ"သူတော်စင်တို့အဖို့ ၎င်းတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ် အထံတော်တွင် စည်းစိမ်ချမ်းသာနှင့် ပြည့်စုံသော ဥယျာဉ်များ ရှိကြလေ၏။ ၁

إِنَّ لِلْمُتَّقِينَ عِندَ رَبِّهِمْ جَنَّاتِ النَّعِيمِ ﴿٣٤﴾

၃၅။ သို့ဖြစ်ပေရာ အရှင်မြတ်သည် မှစ်လင်မ်၊ အမိန့်နာခံသောသူတို့အား အမိန့်ကိုဖီဆန်သောသူတို့ ကဲ့သို့ ပြုလုပ်တော်မူရပါမည်လော။

أَفَنَجْعَلُ الْمُسْلِمِينَ كَالْمُجْرِمِينَ ﴿٣٥﴾

၃၆။ အသင်တို့၌ မည်သို့သောအကြောင်းရှိသနည်း၊ အသင်တို့သည် မည်သို့ စီရင်ဆုံးဖြတ်ကြသနည်း။

مَا لَكُمْ كَيْفَ تَحْكُمُونَ ﴿٣٦﴾

၃၇။ အသင်တို့၌ ကျမ်းဂန်အစောင်စောင်ရှိနေ၍ အသင်တို့သည် ယင်းကျမ်းဂန်၌ ဖတ်ရှုသင်ကြားကြလေသလော၊

أَمْ لَكُمْ كِتَابٌ فِيهِ تَدْرُسُونَ ﴿٣٧﴾

၃၈။ ယင်းကျမ်းဂန်၌ အသင်တို့ နှစ်သက်ကြသော အရာ လာရှိသလော၊

إِنَّ لَكُمْ فِيهِ لَمَا تَخَيَّرُونَ ﴿٣٨﴾

၃၉။ သို့တည်းမဟုတ် အသင်တို့အဖို့ ငါအရှင်မြတ် အပေါ်၌ "ကိယာမတ်" ရှင်ပြန်ထမည့်နေ့ တိုင်အောင် တည်ရှိအံ့သော ကေန်စင်စစ် အသင်တို့အဖို့ အသင်တို့ စီရင်ဆုံးဖြတ်သည့်အတိုင်း ဖြစ်ရမည်ဟူ၍ လေးနက်ခိုင်မာစွာ ကျိန်ဆို၍ ပြုလုပ်ထားသော ကတိသစ္စာခံဝန်ချက်များ ရှိလေသလော။

أَمْ لَكُمْ أَيْمَانٌ عَلَيْنَا بَالِغَةٌ إِلَىٰ يَوْمِ الْقِيَامَةِ ۙ إِنَّ لَكُمْ لَمَا تَحْكُمُونَ ﴿٣٩﴾

(၁) ဆိုလိုသည်ကား အချို့လူသားတို့သည် ဤပစ္စက္ခရှိ ဥယျာဉ်ပန်းမာလ်နှင့် စည်းစိမ်ချမ်းသာများကို ခုံမင်နေကြသည်၊ အမှန်မှာ နောင်တမလွန်ဘဝရှိ ဥယျာဉ်၊ ပန်းမာလ်နှင့် သုခချမ်းသာများသည် ဤပစ္စက္ခရှိ ဥယျာဉ်ပန်းမာလ်များနှင့် စည်းစိမ်ချမ်းသာများထက် အတိုင်းမသိ ကောင်းမွန် မြင့်မြတ်လှပေသည်။ အလျှင်း မနှိုင်းယှဉ်အပ်ပေ။သို့ရာတွင် သိထားအပ်သည်မှာ နောင်တမလွန်ဘဝ၏ အမတသုခများသည် အလ္လာဟ်အရှင်မြတ် အမှန်တကယ် ကြောက်ရွံ့ရိုသေခန့်ညားသော (မွတ္တကီ) သူတော်သူမြတ်များအဖို့သာလျှင် ဖြစ်ကုန်သည်။

၄၀။ (အို-နဗီတမန်တော်) အသင်သည် ၎င်းတို့အား ၎င်းတို့အနက် ယင်းသည့်ဝန်ခံချက်နှင့်စပ်လျဉ်း၍ တာဝန်ယူ အာမခံသောသူသည် မည်သူနည်းဟု မေးမြန်းပါလေ။

سَلْهُمْ أَيُّهُم بِذَٰلِكَ زَعِيمٌ ﴿٤٠﴾

၄၁။ သို့တည်းမဟုတ် ၎င်းတို့ထံတွင် (၎င်းတို့ဖန်တီးထားသော) တွဲဖက် နှိုင်းယှဉ်ဖက်များ ရှိကြလေသလော၊ သို့ရှိလျှင် ၎င်းတို့သည် သစ္စာဝါဒီများ ဖြစ်ကြပါမူ ထိုတွဲဖက် နှိုင်းယှဉ်ဖက်တို့အား ခေါ်ဆောင်လာကြရာသတည်း။

أَمْ لَهُمْ شُرَكَاءُ فَلْيَأْتُوا بِشُرَكَائِهِمْ إِن كَانُوا صَادِقِينَ ﴿٤١﴾

၄၂။ အကြင်နေ့ကို (ပြန်လည်သတိပြုကြလေကုန်၊) ထိုနေ့တွင် ခြေသလုံးဖွင့်လှစ်ခြင်းခံရပေမည်။ ထို့ပြင် ၎င်းတို့သည် 'စဂျ်ဒဟ်' ပျပ်ဝပ်ဦးချရန် ဆင့်ခေါ်ခြင်းကို ခံကြရပေမည်။ သို့တစေလည်း ၎င်းတို့မှာမူကား (စဂျ်ဒဟ်) ပြုစွမ်းနိုင်ကြမည် မဟုတ်ပြီ။ [၁]

يَوْمَ يُكْشَفُ عَن سَاقٍ وَيُدْعَوْنَ إِلَى السُّجُودِ فَلَا يَسْتَطِيعُونَ ﴿٤٢﴾

---

(၁) "ဗုခါရီ" နှင့် "မွတ်စ်လင်မ်" ကျမ်းကြီးများ၌ ခိုင်လုံသော (ဟဒီဆ်) ဩဝါဒတော်များတွင် လာရှိသည်မှာ ကိယာမတ်နေ့တွင် အလ္လာဟ်အရှင်မြတ်သည် မိမိ၏ခြေသလုံးတော်ကို လှစ်၍ပြတော်မူပေမည်။ ခြေသလုံးတော်ကို ဖူးမြင်ကြရသည့်အခါ မုအ်မင်န်အမျိုးသား အမျိုးသမီးအားလုံးတို့သည် (စဂျ်ဒဟ်) ပျပ်ဝပ်ဦးချပေမည်။ သို့ရာတွင် လူ့လောကတွင်ရှိခဲ့စဉ် ဟန်ဆောင်၍ ဦးချခဲ့ကြသော အယောင်ဆောင်များသည် ဦးချနိုင်ကြမည် မဟုတ်ပေ၊ ၎င်းတို့၏ခါးများသည် ပျဉ်ပြားသဖွယ် မာမြင်းတောင့်တင်းလျက်ရှိကြပေမည်။ ကိယာမတ်နေ့တွင် အယောင်ဆောင် မုနာဖစ်က်များပင် ဦးချနိုင်ကြမည်မဟုတ်ပေရာ ကာဖိရ်၊ မွတ်ရှ်ရစ်က် များသည် အသို့လျှင် ဦးချနိုင်ကြအံ့နည်း။ ဤသို့ဖြင့် ကိယာမတ်နေ့တွင် မုအ်မင်န်၊ မုနာဖစ်က်၊ကာဖိရ် မွတ်ရှ်ရစ်က်တို့သည် အထင်အရှား ကွဲပြားခြားနားသွားကြပေမည်။

<u>မှတ်ချက်။</u>

ကုရ်အာန်ကျမ်းမြတ်တွင် အလ္လာဟ်အရှင်မြတ်နှင့်ပတ်သက်၍ လက်တော်၊ မျက်နှာတော် (ဤအာယတ်တော်တွင်) ခြေသလုံးတော်ဟူ၍ အကြောင်းအားလျော်စွာ သုံးနှုန်းထားတော်မူသည်။ ဤသည်တို့သည် "မုတာရှာဗီဟာတ်"တွင် အပါအဝင်ဖြစ်သည်၊ ခက်ခဲနက်နဲလှသည်၊ သိမ်မွေ့လှသည်။ အလ္လာဟ်အရှင်မြတ်၌ နှိုင်းယှဉ်ပုံဆောင်အပ်သော အရာဟူ၍ အလျှင်းမရှိပေရာ၊ ကျွန်ုပ်တို့သည် အလ္လာဟ်အရှင်မြတ်နှင့်ပတ်သက်၍ ကုရ်အာန်ကျမ်းမြတ်တွင် လာရှိသည်များကို လာရှိသည့်အတိုင်းပင် တစ်စုံတစ်ရာ ဝေဖန်ခြင်းမပြုဘဲ (အီမာန်) ယုံကြည်ကြရပေမည်။

၄၃။ ထိုသူတို့၏မျက်စိများသည် အောက်သို့ စိုက်လျက် ရှိပေသည်၊ ဂုဏ်ရည်သိမ်ဖျင်းမှုက ထိုသူတို့အား ဖုံးလွှမ်းလျက် ရှိပေမည်။ စင်စစ်သော်ကား ၎င်းတို့သည် ပကတိကျန်းမာစွာ ရှိနေကြစဉ်အခါ၌ "စဂျ်ဒဟ်" ပျပ်ဝပ်ဦးချရန် ဖိတ်ခေါ်ခြင်းကို ခံခဲ့ကြရကုန်၏။

خَاشِعَةً أَبْصَارُهُمْ تَرْهَقُهُمْ ذِلَّةٌ ۖ وَقَدْ كَانُوا يُدْعَوْنَ إِلَى السُّجُودِ وَهُمْ سَالِمُونَ ﴿٤٣﴾

၄၄။ သို့ဖြစ်ပေရာ (အို-နဗီတမန်တော်) အသင်သည် ဤသည့်အာယတ်တော်ကို မဟုတ်မမှန်ဟူ၍ စွပ်စွဲ ငြင်းပယ်သူတို့အား ငါအရှင်မြတ်နှင့်ပင် လွှတ်ထားပါလေ။ အမှန်ပင် ငါအရှင်မြတ်သည် ၎င်းတို့အား ၎င်းတို့မသိကြသော-နည်းဖြင့်၊ နေရာမှ၊ တဖြည်းဖြည်း ဆွဲချတော်မူမည်။

فَذَرْنِي وَمَنْ يُكَذِّبُ بِهَٰذَا الْحَدِيثِ ۖ سَنَسْتَدْرِجُهُمْ مِنْ حَيْثُ لَا يَعْلَمُونَ ﴿٤٤﴾

၄၅။ သို့ရာတွင် ငါအရှင်မြတ်သည် ၎င်းတို့အား ရွှေ့ဆိုင်းခွင့်ပေးတော်မူ၏၊ ဧကန်မလွဲ ငါအရှင်မြတ်၏ အကြံအစည်သည် လွန်စွာခိုင်မြဲလှ၏။

وَأُمْلِي لَهُمْ ۚ إِنَّ كَيْدِي مَتِينٌ ﴿٤٥﴾

၄၆။ (အို-နဗီတမန်တော်) အသင်သည် ၎င်းတို့ထံ အကျိုးကျေးဇူး တစ်စုံတစ်ရာကို တောင်းဆိုသဖြင့် ၎င်းတို့သည် ဒဏ်ငွေဆောင်မှုကြောင့် ဖိစီးခြင်းခံနေကြရလေသလော။

أَمْ تَسْأَلُهُمْ أَجْرًا فَهُمْ مِنْ مَغْرَمٍ مُثْقَلُونَ ﴿٤٦﴾

၄၇။ သို့တည်းမဟုတ် ၎င်းတို့ထံတွင် အကွယ်၌ရှိသည်တို့ကို (သိစွမ်းနိုင်သောအသိပညာ)ရှိနေသဖြင့် ၎င်းတို့သည် ရေးမှတ်ယူကြလေသလော။

أَمْ عِنْدَهُمُ الْغَيْبُ فَهُمْ يَكْتُبُونَ ﴿٤٧﴾

၄၈။ သို့ဖြစ်ပေရာ (အို-နဗီတမန်တော်) အသင်သည် မိမိအရှင်မြတ်၏ စီရင်ပြဋ္ဌာန်းချက်ကို စောင့်စားသောအားဖြင့် သည်းခံ၍နေပါလေ။ ၎င်းပြင် အသင်သည် ငါးရှင်ကဲ့သို့ မဖြစ်ပါလေနှင့်။

فَاصْبِرْ لِحُكْمِ رَبِّكَ وَلَا تَكُنْ كَصَاحِبِ الْحُوتِ إِذْ نَادَىٰ وَهُوَ مَكْظُومٌ ﴿٤٨﴾

တရံရောအခါဝယ် ထိုငါးရှင်သည် ဒုက္ခကို ကျိတ်မှိတ် ခံစားလျက်ရှိနေစဉ် မိမိအရှင်မြတ်အား ဟစ်ခေါ်(တမ်းတ)ခဲ့လေ၏။

لَوْلَآ اَنْ تَدٰرَكَهٗ نِعْمَةٌ مِّنْ رَّبِّهٖ لَنُبِذَ بِالْعَرَآءِ وَهُوَ مَذْمُوْمٌ ﴿٤٩﴾

၄၉။ အကယ်၍သာလျှင် ထိုငါးရှင်အား ၎င်း၏ အရှင်မြတ်ထံတော်မှ ကျေးဇူးတော်သည် သက်ရောက် ခဲ့သည်မရှိမူ အမှန်ပင်ထိုငါးရှင်မှာ အခြေမလှဖြစ် လျက် သစ်ပင်၊ ဝါးပင်၊ အိုးအိမ်စသည် (လုံးဝ)မရှိ သောလွင်ပြင်ဝယ် ပစ်ထားခြင်းကိုခံခဲ့ရမည်သာ။ ①

فَاجْتَبٰهُ رَبُّهٗ فَجَعَلَهٗ مِنَ الصّٰلِحِيْنَ ﴿٥٠﴾

၅၀။ သို့တစေလည်း ထိုငါးရှင်အား ၎င်း၏အရှင် မြတ်သည် ရွေးချယ်မြှောက်စားတော်မူပြီးလျှင် သူတော် ကောင်းတို့တွင် ပါဝင်စေတော်မူခဲ့၏။

---

① ဤအာယတ်တော်တွင် (ဆွာဟိဗုလ်ဟူတ်) "ငါးရှင်" ဟူသည် တမန်တော် ယူနွတ်စ်(အလိုင်ဟစ္စလာမ်)ကို ဆိုလိုသည်။ တမန်တော် ယူနွတ်စ်သည် မိမိ၏အမျိုးသားများအား နှစ်ပရိစ္ဆေဒ မြောက်မြားစွာ တရားဟော ညွှန်ပြတော်မူခဲ့သော်လည်း အမျိုးသားများသည် တရားမရကြသည့်အပြင် တမန်တော် ယူနွတ်စ်ကိုပင် ပြောင်လှောင်ပြက်ရယ်ပြုလာခဲ့ကြ၏။ အန္တရာယ်ပြုလာခဲ့ကြ၏။

ထိုအခါ တမန်တော်ယူနွတ်စ်သည် မည်သို့မျှ သွန်သင်ဆုံးမ၍မရသည့်အဆုံး၌ လွန်စွာစိတ်ဆင်းရဲကာ အမျိုးသားများအား ကျိန်ဆဲ၍၊ မိမိအမျိုးသားများ၏ နေထိုင်ရာမြို့ရွာများမှ ထွက်ခွာလာခဲ့၏။ သို့ထွက်ခွာ လာပြီးနောက် တမန်တော်ယူနွတ်စ်သည် မိမိ၏ အမျိုးသားများ (အီမာန်)မယုံကြည်ကြသည်က တစ်ကြောင်း၊ မိမိ၏ကျိန်ဆဲခဲ့သည့်အတိုင်း ပြစ်ဒဏ်မသက်ရောက်သည်က တစ်ကြောင်း၊ အလ္လာဟ်အရှင်မြတ်ထံတော်မှ အတိအလင်း ခွင့်ပြုချက်မရရှိပါပဲလျက် မြို့မှအလျင်စလို ထွက်ခွာလာခဲ့မိသည်ကတစ်ကြောင်း၊ ငါးကြီး၏ ဝမ်းဗိုက်တွင် ရောက်ရှိနေရသည်ကတစ်ကြောင်း၊ အဆိုပါ အကြောင်းကြောင်းများကြောင့် ကြီးမားသောစိတ်ဒုက္ခကို ကျိတ်မှိတ်၍ အလူးအလိမ့်ခံစားနေခဲ့ရရှာ၏။

ထိုအချိန်တွင် တမန်တော်ယူနွတ်စ်သည် ကုရ်အာန်(၂၁း၈၇)တွင် လာရှိသည့်အတိုင်း အလ္လာဟ်အရှင် မြတ်ထံတော်၌ ဝန်ချတောင်းပန် အသနားခံခဲ့၏။ အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်ကိုသာ မခိုလှုံခဲ့ရပါက တမန်တော်ယူနွတ်စ်သည် ကဲ့ရဲ့ပြစ်တင်ခြင်းခံရမည့်အပြင် လွင်ပြင်၌ ထာဝစဉ်စွန့်ပစ်ထားခြင်း ခံခဲ့ရမည်သာ ဖြစ်သည်။

ဤအာယတ်တော်တွင် အလ္လာဟ်အရှင်မြတ်က၊ တမန်တော်မြတ်အား မိမိ၏အမိန့်တော်ကို သည်းခံ စောင့်စားရန်နှင့် တမန်တော်ယူနွတ်စ်ကဲ့သို့ အလျင်စလို မပြုမိရန် သတိပေးထားတော်မူသည်။

၅၁။ စင်စစ်သော်ကား ကေန်မလွဲ 'ကာဖိရ်'သွေဖည် ငြင်းပယ်သူတို့သည် ကုရ်အာန်ကျမ်းတော်မြတ်ကို နားထောင်ကြသောအခါ ၎င်းတို့၏မျက်စိများဖြင့် အသင့်အား ချွတ်ချော်စေအံ့ဆဲဆဲ ဖြစ်ကြလေ၏။ ထိုမှတစ်ပါး ၎င်းတို့က ဧကန်အမှန် ဤသူသည် ရူးသွပ်နေသည်ဟု ပြောဆိုကုန်၏။ [၁]

وَإِن يَكَادُ الَّذِينَ كَفَرُوا لَيُزْلِقُونَكَ بِأَبْصَارِهِمْ لَمَّا سَمِعُوا الذِّكْرَ وَيَقُولُونَ إِنَّهُ لَمَجْنُونٌ ﴿٥١﴾

၅၂။ စင်စစ် ယင်း ကုရ်အာန်ကျမ်းတော်မြတ်မှာ စကြာဝဠာခပ်သိမ်းတို့အဖို့ ဆုံးမသြဝါဒမှတစ်ပါး အခြားမဟုတ်ပြီတကား။

وَمَا هُوَ إِلَّا ذِكْرٌ لِّلْعَالَمِينَ ﴿٥٢﴾

(၁) ကာဖိရ်၊ မွတ်ရှိရစ်က်များသည် ကုရ်အာန်ကျမ်းမြတ်လာ တရားတော်များကို ကြားကြရသည့်အခါ ဒေါသအမျက် ချောင်းချောင်းထွက်ကာ တမန်တော်မြတ်အား မိမိတို့၏ မျက်စိများဖြင့် ချွတ်ချော်တိမ်းယိမ်းသွားစေရန် အစွမ်းကုန်ကြိုးစားခဲ့ကြ၏။ မိမိတို့၏နှုတ်များဖြင့်လည်း (မပြောအပ် မဆိုအပ်) သူရူးဟု ဆိုခဲ့ကြ၏။ ကာဖိရ်၊ မွတ်ရှိရစ်က်များသည် တမန်တော်မြတ်အား တစ်နည်းတစ်ဖုံ ချွတ်ချော်တိမ်းယိမ်းသွားစေရန် ကြိုးစားခဲ့လင့်ကစား တမန်တော်မြတ်သည် အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်ဖြင့် အစ္စလာမ့်လမ်းစဉ်အပေါ်၌ အံ့ဖွယ်သရဲ ရပ်တည်၍ နေတော်မူခဲ့ပေသည်။

# အမှန်မုချဖြစ်မည့်အရာကဏ္ဍ

سُورَةُ الحَاقَّة

ဤကဏ္ဍသည် "အလ်ဟားက္ကဟ်" အမှန်မုချဖြစ်မည့်အရာ ကဏ္ဍမည်၏။
မက္ကာမြို့တော်၌ ကျရောက်ခဲ့၏။ ဤကဏ္ဍတွင် အာယတ်တော် (၅၂)ပါး၊
ရကူအ် အပိုဒ်(၂)ပိုဒ်၊ အသီးသီး ပါရှိ၏။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ ۝

အလွန်တရာ ကြင်နာသနားတော်မူသော၊
ကရုဏာတော်ရှင်ဖြစ်တော်မူသော၊
အလ္လာဟ်အရှင်မြတ်၏ နာမံတော်ဖြင့် အစပြုပါ၏။

ٱلْحَآقَّةُ ۝١

၁။ အကယ်စင်စစ် ဖြစ်အံ့သောအရာ။

مَا ٱلْحَآقَّةُ ۝٢

၂။ ယင်း အကယ်စင်စစ် ဖြစ်အံ့သောအရာကား မည်သည့်အရာနည်း။

وَمَآ أَدْرٰىكَ مَا ٱلْحَآقَّةُ ۝٣

၃။ စင်စစ် ယင်း အကယ်စင်စစ် ဖြစ်အံ့သော အရာသည် မည်သည့်အရာဖြစ်ကြောင်း အသင်သိပါ သလော။[၁]

كَذَّبَتْ ثَمُودُ وَعَادٌۢ بِٱلْقَارِعَةِ ۝٤

၄။ "ဆမူဒ်"လူမျိုးတို့သည်လည်းကောင်း၊ "အာဒ်" လူမျိုးတို့သည်လည်းကောင်း၊ ဆိုက်ရောက်အံ့သော ဘေးကြီး (ဝါ) "ကိယာမတ်"ကို မဟုတ်မမှန်ဟူ၍ စွပ်စွဲ ငြင်းပယ်ခဲ့ကြကုန်၏။

---

(၁) "ဟားက္ကဟ်" ဟူသောပုဒ်၏ မူရင်းအဓိပ္ပါယ်မှာ 'အမှန်မုချ ဖြစ်ပေါ်သက်ရောက်အံ့သောအရာ' ဟူ၍ဖြစ်သည်၊ ဤတွင် "ကိယာမတ်"ကို ဆိုလိုသည်။ အဘယ်ကြောင့်ဆိုသော် ကိယာမတ်သည် အမှန်မုချဖြစ်မည်၊ ကိယာမတ်တွင် ကျိုးပြစ်အမှန် သက်ရောက်မည်။ ကြည့်-ဗိုင်ဿဝီ၊ ရာဃိဗ်။

ဤအာယတ်တော်တွင် ကိယာမတ်နှင့်စပ်လျဉ်း၍ အကြိမ်ကြိမ်အဖန်ဖန် ပြန်လှန်မေးမြန်းထားတော်မူခြင်းမှာ အရဗ်စာပေအရ လေးနက်စေသည်ထက် ပိုမိုလေးနက်စေရန်ပင်ဖြစ်သည်။ ဤနည်းနှင်နှင် ကုရ်အာန် (၁၀၁း၁-၃)တွင်လည်း သုံးနှုန်းထားတော်မူသည်။

ကိယာမတ်နေ့တွင် အဘယ်မျှကြောက်မက်ဖွယ်ကောင်းလှသည်ကို အသူမျှပင်တွေးဆင်ခြင်၍ အတိအကျမသိရှိနိုင်ပေ၊ အတိုင်းမသိကြောက်မက်ဖွယ် ကောင်းလှ၏။ အနည်းငယ်စဉ်းစားဆင်ခြင်နိုင်ရန်အတွက် ရှေ့တွင်အတိတ်ခေတ်၌ ကြောက်ဖွယ်လိလိ အရေးယူ ကွပ်မျက်တော်မူခြင်းကို ခံခဲ့ကြရသော အချို့ ➢➢

فَأَمَّا ثَمُودُ فَأُهْلِكُوا
بِالطَّاغِيَةِ ٥

၅။ သို့ဖြစ်ပေရာ "ဆမူဒ်"လူမျိုးတို့ကား အတိုင်းထက်အလွန် ပြင်းထန်လှစွာသောအသံဖြင့် သေကြေပျက်စီးစေခြင်းကို ခံခဲ့ကြကုန်၏။

وَأَمَّا عَادٌ فَأُهْلِكُوا بِرِيحٍ
صَرْصَرٍ عَاتِيَةٍ ٦

၆။ ၎င်းပြင် "အာဒ်"လူမျိုးတို့မှာမူ ကြမ်းတမ်းလှစွာသော သောင်းကျန်းသော လေပြင်းမုန်တိုင်းဖြင့် ဖျက်ဆီးခြင်းကို ခံခဲ့ကြရကုန်၏။

سَخَّرَهَا عَلَيْهِمْ سَبْعَ
لَيَالٍ وَثَمَانِيَةَ أَيَّامٍ
حُسُومًا فَتَرَى الْقَوْمَ
فِيهَا صَرْعَىٰ كَأَنَّهُمْ أَعْجَازُ
نَخْلٍ خَاوِيَةٍ ٧

၇။ ထိုအရှင်မြတ်သည် ယင်းလေပြင်းမုန်တိုင်းကို ခုနစ်ညဥ့်နှင့်ရှစ်ရက်တိုင်တိုင် တစ်ဆက်တည်း ၎င်းတို့အပေါ်ဝယ် တာဝန်ပေးခန့်အပ်တော်မူခဲ့၏။ သို့ဖြစ်ပေရာ အသင်သည် ယင်းလူမျိုးတို့အား ပြိုလဲနေသော၊ သစ်ခေါင်းပွဖြစ်သော၊ စွန်ပလွံပင်များပမာ ယင်းလေပြင်း မုန်တိုင်းအောက်တွင် လဲ၍နေကြသည်ကို တွေ့မြင်ရပေမည်။

فَهَلْ تَرَىٰ لَهُم مِّن بَاقِيَةٍ ٨

၈။ သို့ဖြစ်ရာ အသင်သည် ၎င်းတို့အနက် (သေကြေပျက်စီးခြင်းမရှိဘဲ) ကြွင်းကျန်လျက်ရှိသူ တစ်ဦးတစ်ယောက်အား တွေ့မြင်ရလေသလော။

وَجَاءَ فِرْعَوْنُ وَمَن قَبْلَهُ
وَالْمُؤْتَفِكَاتُ بِالْخَاطِئَةِ ٩

၉။ ထို့ပြင် "ဖစ်ရ်အောင်န်"သည်လည်းကောင်း၊ ထို "ဖစ်ရ်အောင်န်"၏အလျင်ရှိခဲ့ကြသောသူတို့သည်လည်းကောင်း၊ ထက်အောက် ပြောင်းပြန်လှန်ခြင်းကို ခံခဲ့ကြရသော ရွာ(သူရွာသား)တို့သည်လည်းကောင်း၊ ပြစ်မှုကို ကျူးလွန်ခဲ့ကြကုန်၏။

➤➤ အမျိုးသားများ၏ အဖြစ်များကို မိန့်ဆိုထားတော်မူသည်။ တစ်နည်းဆိုရသော် ယင်းဖြစ်ရပ်များသည် ကိယာမတ်ကြီး၏ ရှေ့တော်ပြေး ကိယာမတ်ကလေးများပင်။

فَعَصَوْا رَسُولَ رَبِّهِمْ فَأَخَذَهُمْ أَخْذَةً رَّابِيَةً ﴿١٠﴾

၁၀။ တစ်ဖန် ၎င်းတို့သည် မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်မှ စေလွှတ်တော်မူသော ရစူလ်တမန်တော်၏အမိန့်ကို ဖီဆန်ခဲ့ကြကုန်၏။ သို့ဖြစ်ပေရာ ထိုအရှင်မြတ်သည် ၎င်းတို့အား (အခြားလူမျိုးများထက်) ပိုမို၍တင်းကြပ်စွာ ဖမ်းဆီးအရေးယူတော်မူခြင်းအားဖြင့် ဖမ်းဆီးအရေးယူတော်မူခဲ့၏။

إِنَّا لَمَّا طَغَا الْمَاءُ حَمَلْنَاكُمْ فِي الْجَارِيَةِ ﴿١١﴾

၁၁။ ဧကန်စင်စစ် ငါအရှင်မြတ်သည်ပင် အသင်တို့အား ရေ(လှိုင်းများ) တိုးမြင့်လွှမ်းမိုး၍လာခဲ့သောအခါ သင်္ဘောပေါ်၌ တင်ဆောင်(ကယ်တင်)တော်မူခဲ့၏။

لِنَجْعَلَهَا لَكُمْ تَذْكِرَةً وَتَعِيَهَا أُذُنٌ وَاعِيَةٌ ﴿١٢﴾

၁၂။ ငါအရှင်မြတ်သည် ယင်းဖြစ်အင်ကို အသင်တို့အဖို့ အမြဲမှတ်မိ သတိရစေရာ ပြုလုပ်တော်မူအံ့သောငှာလည်းကောင်း၊ မှတ်ထားသောနားသည် ယင်းဖြစ်အင်ကို မှတ်ထားကြအံ့သောငှာလည်းကောင်း။

فَإِذَا نُفِخَ فِي الصُّورِ نَفْخَةٌ وَاحِدَةٌ ﴿١٣﴾

၁၃။ မည်သို့ပင်ဖြစ်စေ တံပိုးခရာ၌တစ်ချက်တည်း မှုတ်လေသော်၊

وَحُمِلَتِ الْأَرْضُ وَالْجِبَالُ فَدُكَّتَا دَكَّةً وَاحِدَةً ﴿١٤﴾

၁၄။ ထို့ပြင် ပထဝီမြေသည်လည်းကောင်း၊ တောင်များသည်လည်းကောင်း၊ ပင့်မြှောက်(ဖယ်ရှား)ခြင်းကို ခံကြရပြီးလျှင် တစ်ချက်တည်း ညက်ညက်ကြေအောင် ထုထောင်းခြင်းကို ခံခဲ့ကြရသော်၊

فَيَوْمَئِذٍ وَقَعَتِ الْوَاقِعَةُ ﴿١٥﴾

၁၅။ ထိုအခါ ကိယာမတ်သည်ဖြစ်ပျက်လာပေမည်။

وَانشَقَّتِ السَّمَاءُ فَهِيَ يَوْمَئِذٍ وَاهِيَةٌ ﴿١٦﴾

၁၆။ ၎င်းပြင် မိုးကောင်းကင်သည် အက်ကွဲသွားမည်ဖြစ်ရာ ယင်းမိုးကောင်းကင်မှာ ထိုနေ့တွင် နုံနဲ့၊ ချူချာ၊ ပျက်ယွင်းလျက် ရှိချိမ့်မည်။

وَالْمَلَكُ عَلَىٰٓ أَرْجَآئِهَا ۚ وَيَحْمِلُ عَرْشَ رَبِّكَ فَوْقَهُمْ يَوْمَئِذٍ ثَمَٰنِيَةٌ ﴿١٧﴾

၁၇။ ၎င်းပြင် "မလာအိကဟ်" ကောင်းကင်တမန်တို့မှာကား ယင်းမိုးကောင်းကင်၏ နံဘေးများ၌ ရှိနေကြပေမည်။ ထိုမှတစ်ပါး ထိုနေ့တွင် အသင့်အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၏ "အရ်ရှ်" ပလ္လင်တော်ကို ကောင်းကင်တမန်ရှစ်ပါးတို့က မိမိတို့ ထက်ဝယ် ထမ်းဆောင်လျက်ရှိကြပေမည်။ [၁]

يَوْمَئِذٍ تُعْرَضُونَ لَا تَخْفَىٰ مِنكُمْ خَافِيَةٌ ﴿١٨﴾

၁၈။ ထိုနေ့တွင် အသင်တို့သည် ရှေ့တော်မှောက်သို့ သွင်းစေခြင်းကို ခံကြရပေမည်။ (ထိုနေ့တွင်) အသင်တို့အပေါ်ဝယ် မည်သည့်ဖုံးကွယ်၍နေသော အရာမျှပင် ဖုံးကွယ်၍နေချိမ့်မည် မဟုတ်ပေတကား။ (တစ်နည်း)(ထိုနေ့တွင်) အသင်တို့ဖုံးကွယ်သော မည်သည့် အရာမျှပင် (အလ္လာဟ်အရှင်မြတ်)အပေါ်ဝယ် ဖုံးကွယ်၍ နေချိမ့်မည် မဟုတ်ပေတကား။

فَأَمَّا مَنْ أُوتِىَ كِتَٰبَهُۥ بِيَمِينِهِۦ فَيَقُولُ هَآؤُمُ ٱقْرَءُوا۟ كِتَٰبِيَهْ ﴿١٩﴾

၁၉။ သို့သော် မည်သို့ဖြစ်စေ မိမိမှတ်တမ်းစာအုပ်ကို မိမိလက်ယာလက်ဝယ်တွင် ပေးအပ်ခြင်းခံရသော သူသည် (သူတစ်ပါးတို့အား ပျော်ရွှင်စွာဖြင့်) (ဤသို့) ပြောဆိုပေမည်။ အသင်တို့သည် ကျွန်ုပ်၏မှတ်တမ်းစာအုပ်ကို ယူ၍ဖတ်ကြလေကုန်။

---

(၁) အလ္လာဟ်အရှင်မြတ်၏ အတိုင်းမသိ ကြီးကဲမြင့်မြတ်လှသော 'အရ်ရှ်' ပလ္လင်တော်အကြောင်း ကုရ်အာန်ကျမ်းမြတ်တွင် အကြိမ်ကြိမ်ပါရှိသည်။ ယင်း ပလ္လင်တော်အကြောင်းနှင့်စပ်လျဉ်း၍ ကုရ်အာန်(၇:၅၄)တွင် ရေးသားခဲ့ပေပြီ။ ယင်းပလ္လင်တော်ကို ကောင်းကင်တမန်များ ထမ်းဆောင်လျက် ရှိကြကုန်သည်။
ကြည့်-ကုရ်အာန်(၄၀:၇)။

ကိယာမတ်နေ့၌ အဆိုပါအရ်ရှ်ပလ္လင်တော်ကို ကောင်းကင်တမန်(၈)ပါးက အထူးတလည် ထမ်းရွက်လျက်ရှိကြပေမည်။ အဆိုတစ်ရပ်အရ ဤအာယတ်တော်တွင်ပါရှိသော ပလ္လင်တော်ဟူသည် ကိယာမတ်နေ့တွင် တရားစီရင်ဆုံးဖြတ်တော်မူရန်အတွက် ကမ္ဘာမြေ၌ ထားရှိတော်မူမည့် ပလ္လင်တော်ကို ဆိုလိုသည်ဟူ၍လည်း ယူဆနိုင်ပေသည်။ ကြည့်-ဣဗ်နုကဆီရ်။

| | |
|---|---|
| ၂၀။ စင်စစ်သော်ကား ကျွန်ုပ်သည် (လူ့လောက၌ ရှိစဉ်ကပင်) ဧကန်မလွဲ ကျွန်ုပ်သည် မိမိအား စစ်ဆေးမေးမြန်းခြင်းနှင့် တွေ့ဆုံရမည်ကို ယုံကြည်လျက် ရှိခဲ့၏။ | إِنِّي ظَنَنتُ أَنِّي مُلَٰقٍ حِسَابِيَهْ ۝٢٠ |
| ၂၁။ ထို့နောက် ထိုသူသည် စိတ်တိုင်းကျ သုခစည်းစိမ်၌ နေရပေမည်။ | فَهُوَ فِي عِيشَةٍ رَّاضِيَةٍ ۝٢١ |
| ၂၂။ မြင့်မြတ်လှစွာသော ဂျန္နတ်သုခဘုံ၌၊ | فِي جَنَّةٍ عَالِيَةٍ ۝٢٢ |
| ၂၃။ ယင်း"ဂျန္နတ်"သုခဘုံ၏ သစ်သီးဝလံများမှာ ညွတ်လျက် ရှိကြပေမည်။ | قُطُوفُهَا دَانِيَةٌ ۝٢٣ |
| ၂၄။ (၎င်းတို့သည် ဤသို့ပြောဆိုခြင်းကို ခံကြရပေမည်။) အသင်တို့သည် လွန်လေပြီးဖြစ်သော နေ့ရက်များတွင် မိမိတို့ ကြိုတင်ပို့နှင့်ခဲ့ကြလေသော အကျင့်သီလများကြောင့် မြိန်ရှက်စွာ စားသောက်ကြလေကုန်။ | كُلُوا وَاشْرَبُوا هَنِيٓـًٔا بِمَآ أَسْلَفْتُمْ فِي الْأَيَّامِ الْخَالِيَةِ ۝٢٤ |
| ၂၅။ သို့ရာတွင် မိမိလက်ဝဲလက်၌ မိမိမှတ်တမ်းစာအုပ်ပေးခြင်းခံရသောသူမှာမူကား (ဤသို့) ပြောဆိုပေမည်။ သြော်–ငါသည် မိမိ(လက်သို့) မှတ်တမ်းစာအုပ်ပေးခြင်း မခံခဲ့ရလျှင် ကောင်းလေစွ။ | وَأَمَّا مَنْ أُوتِيَ كِتَٰبَهُۥ بِشِمَالِهِۦ فَيَقُولُ يَٰلَيْتَنِي لَمْ أُوتَ كِتَٰبِيَهْ ۝٢٥ |
| ၂၆။ မိမိ စာရင်းအင်းကိုလည်း မသိခဲ့ရလျှင် ကောင်းလေစွ။ | وَلَمْ أَدْرِ مَا حِسَابِيَهْ ۝٢٦ |
| ၂၇။ "မရဏ" သေခြင်းတရားသည် လုံး၀ အပြီးအပြတ်စီရင်ခဲ့လျှင် ကောင်းလေစွ။ | يَٰلَيْتَهَا كَانَتِ الْقَاضِيَةَ ۝٢٧ |
| ၂၈။ ငါ၏ပစ္စည်းဥစ္စာသည် ငါ၏အဖို့ အသုံးဝင်ခဲ့သည် မဟုတ်ပြီ။ | مَآ أَغْنَىٰ عَنِّي مَالِيَهْ ۝٢٨ |

၂၉။ ငါ၏အစွမ်းသတ္တိ ဂုဏ်ကျက်သရေသည်လည်း ငါ့ထံမှ ပျောက်ပျက်၍သွားချေပြီ။

هَلَكَ عَنِّي سُلْطٰنِيَهْ ۝٢٩

၃၀။ (ထိုအခါ ငရဲစောင့်တို့သည် ဤသို့အမိန့်ပေးခြင်းကို ခံကြရပေမည်။) အသင်တို့သည် ၎င်းအား ဖမ်းဆီး၍ ၎င်း၏လည်ပင်း၌ ကွင်းတပ်ကြလေကုန်။

خُذُوهُ فَغُلُّوهُ ۝٣٠

၃၁။ ထို့နောက် အသင်တို့သည် ၎င်းအား ဂျဟန္နမ်ငရဲသို့ ပစ်ချကြလေကုန်။

ثُمَّ الْجَحِيمَ صَلُّوهُ ۝٣١

၃၂။ ထို့နောက် အသင်တို့သည် ၎င်းအား အရှည်အလျား အတောင်-ခုနစ်ဆယ်ရှိသော သံကြိုးဖြင့် တုပ်နှောင်ကြလေကုန်။

ثُمَّ فِي سِلْسِلَةٍ ذَرْعُهَا سَبْعُونَ ذِرَاعًا فَاسْلُكُوهُ ۝٣٢

၃၃။ ဧကန်အမှန် ၎င်းသည် ထူးကဲမြင့်မြတ်တော်မူသော အလ္လာဟ်အရှင်မြတ်အား ယုံကြည်ခဲ့သည်မဟုတ်ပေ။

إِنَّهُ كَانَ لَا يُؤْمِنُ بِاللَّهِ الْعَظِيمِ ۝٣٣

၃၄။ သူဆင်းရဲတို့အား ကျွေးမွေးရန် တိုက်တွန်းလေ့ရှိခဲ့သည်လည်း မရှိပေ။

وَلَا يَحُضُّ عَلَىٰ طَعَامِ الْمِسْكِينِ ۝٣٤

၃၅။ သို့ဖြစ်ပေရာ ယနေ့ ဤနေရာတွင် ၎င်း၏ အဆွေခင်ပွန်းဟူ၍ တစ်ဦးတစ်ယောက်မျှမရှိပြီ။

فَلَيْسَ لَهُ الْيَوْمَ هٰهُنَا حَمِيمٌ ۝٣٥

၃၆။ (၎င်း၏အဖို့) အစားအစာဟူ၍လည်း အနာများမှထွက်သော သွေးပုပ်ပြည်ပုပ် ဆေးထားသော ရေညစ်ရေပုပ်မှတစ်ပါး အခြားမရှိပြီ။

وَلَا طَعَامٌ إِلَّا مِنْ غِسْلِينٍ ۝٣٦

၃၇။ ယင်းသည့် ရေညစ်ရေပုပ်ကို အပြစ်ရှိသူတို့မှတစ်ပါး မည်သူမျှ စားသုံး(သောက်မျို)ရမည်မဟုတ်ပေတကား။

لَا يَأْكُلُهُ إِلَّا الْخٰطِئُونَ ۝٣٧

၃၈။ ထို့နောက် ငါအရှင်မြတ်သည် အသင်တို့မြင်ကြသောအရာများကို သက်သေထူတော်မူ၏။

فَلَا أُقْسِمُ بِمَا تُبْصِرُونَ ۝٣٨

وَمَا لَا تُبْصِرُونَ ﴿٣٩﴾

၃၉။ ထိုနည်းတူစွာ အသင်တို့ မမြင်ကြသောအရာများကို (သက်သေထူတော်မူ၏)။

إِنَّهُ لَقَوْلُ رَسُولٍ كَرِيمٍ ﴿٤٠﴾

၄၀။ စင်စစ်ကေန် ယင်းကုရ်အာန်ကျမ်းတော်မြတ်သည် မြင့်မြတ်သောစေတမန်တစ်ပါး (ယူဆောင်လာသော အလ္လာဟ်အရှင်မြတ်)၏ အာယတ်တော်ပင်ဖြစ်၏။

وَمَا هُوَ بِقَوْلِ شَاعِرٍ ۚ قَلِيلًا مَّا تُؤْمِنُونَ ﴿٤١﴾

၄၁။ စင်စစ် ယင်းကုရ်အာန်ကျမ်းတော်မြတ်သည် မည်သည့်ကဗျာဆရာ တစ်ဦးတစ်ယောက်၏ ပြောဆိုချက်မျှ မဟုတ်ပြီ။ အသင်တို့သည် အနည်းငယ်မျှသာ လျှင် သက်ဝင်ယုံကြည်ကြကုန်၏။

وَلَا بِقَوْلِ كَاهِنٍ ۚ قَلِيلًا مَّا تَذَكَّرُونَ ﴿٤٢﴾

၄၂။ ထိုမှတစ်ပါး မည်သည့် ဟူးရား၊ အနာဂတ်ဟောဆရာ တစ်ဦးတစ်ယောက်၏ ပြောဆိုချက်မျှလည်း မဟုတ်ပြီ။ အသင်တို့သည် အနည်းငယ်စိုးစဉ်းမျှသာ နားလည်ကြကုန်၏။

تَنزِيلٌ مِّن رَّبِّ الْعَالَمِينَ ﴿٤٣﴾

၄၃။ (ယင်းကုရ်အာန်ကျမ်းတော်မြတ်မှာ) စကြာဝဠာခပ်သိမ်းတို့ကို ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်ထံတော်မှ ချပေးတော်မူသော (အာယတ်တော်ပင်) ဖြစ်ချေသတည်း။ [၁]

---

① ကုရ်အာန်ကျမ်းမြတ်သည် စကြာဝဠာအဝှန်းကို ဖန်ဆင်းမွေးမြူတော်မူသော အလ္လာဟ်အရှင်မြတ်ထံတော်မှ ထုတ်ပြန်ချမှတ်တော်မူသော မြင့်မြတ်လှသော ကျမ်းဂန် မမွကန်ဖြစ်သည်။ ယင်းကျမ်းမြတ်ကို အမြင့်မြတ်ဆုံး ကောင်းကင်တမန်တော်တစ်ပါးက အမြင့်မြတ်ဆုံးသော တမန်တော်တစ်ပါးထံသို့ ယူဆောင်ပို့သခဲ့ခြင်းဖြစ်သည်။ ကျမ်းမြတ်ကုရ်အာန်ကို ကောင်းကင်မှ ယူဆောင်လာခဲ့သော ကောင်းကင်တမန်သည် မြင့်မြတ်လှဘိသည်။ ယင်းကျမ်းမြတ်ကို ကမ္ဘာအဝှန်းသို့ ဟောကြားတော်မူခဲ့သော တမန်တော်သည်လည်း မြင့်မြတ်တော်မူလှဘိသည်။ တမန်တော် ၂–ပါးလုံးသည် မြင့်မြတ်လှဘိတကား။ တမန်တော်မြတ်၏ မြင့်မြတ်မှုကား မျက်မြင်ကိုယ်တွေ့ပင်ဖြစ်သည်။ ကောင်းကင်တမန်၏ မြင့်မြတ်မှုကိုကား တမန်တော်မြတ်က ပြောပြတော်မူသဖြင့် သိရှိရသည်။ ယင်းသို့ အတိုင်းမသိ ကြီးကဲမြင့်မြတ်တော်မူသော အလ္လာဟ်အရှင်မြတ်ထံတော်မှ အမြင့်မြတ်ဆုံး ကောင်းကင်တမန်တစ်ပါးက အမြင့်မြတ်ဆုံးသော တမန်တော်တစ်ပါးထံသို့ ယူဆောင်ပို့သခဲ့သော ကုရ်အာန်ကျမ်းမြတ်သည် ➤➤

وَلَوْ تَقَوَّلَ عَلَيْنَا بَعْضَ الْأَقَاوِيلِ ﴿٤٤﴾

၄၄။ စင်စစ်သော်ကား အကယ်၍သာ ထို(နဗီ တမန်တော်မြတ်)သည် ငါအရှင်မြတ်အပေါ်၌ အချို့သောစကားများကို လုပ်ကြံပြောဆိုခဲ့ပါလျှင်၊

لَأَخَذْنَا مِنْهُ بِالْيَمِينِ ﴿٤٥﴾

၄၅။ အမှန်ပင် ငါအရှင်မြတ်သည် သူ၏လက်ယာလက်ကို ဖမ်းဆွဲတော်မူခဲ့ပေမည်။

ثُمَّ لَقَطَعْنَا مِنْهُ الْوَتِينَ ﴿٤٦﴾

၄၆။ ထို့နောက် ငါအရှင်မြတ်သည် သူ၏နှလုံးကြောကို ဖြတ်တောက်တော်မူခဲ့ပေမည်သာ။

فَمَا مِنْكُمْ مِنْ أَحَدٍ عَنْهُ حَاجِزِينَ ﴿٤٧﴾

၄၇။ ထိုအခါ အသင်တို့အနက် မည်သူတစ်ဦးတစ်ယောက်မျှပင် သူ့အား ယင်းပြစ်ဒဏ်မှ ကာကွယ်တားဆီးပေးနိုင်သောသူဟူ၍လည်းရှိမည်မဟုတ်ပေ၊ ⁽¹⁾

---

➤➤ မက္ကာမြို့သား ကာဖိရ်များ ယိုးစွပ်ပြောဆိုခဲ့ကြသကဲ့သို့ အသို့လျှင် လက်ာဆရာတစ်ဦးတစ်ယောက်၏ စကား၊ အနာဂတ်ဟော ဆရာတစ်ဦး တစ်ယောက်၏ စကား ဖြစ်နိုင်အံ့နည်း။

ဤစကြာဝဠာတွင် ပစ္စည်း ၂–မျိုး ၂–စားရှိသည်။ အချို့ပစ္စည်းများကို လူသားတို့တွေ့မြင်ကြရသည်။ အချို့ပစ္စည်းများကိုမူ မတွေ့မမြင်ကြရပေ။ တွေ့မြင်သော အရာများကို ယုံကြည်ရသကဲ့သို့၊ မတွေ့မမြင်ရသော အရာများကို ယုံကြည်ရသည်လည်း ရှိသည်။ ဥပမာ– ပထဝီမြေကြီးသည် အသူကြည့်ကြည့်၊ အသို့ပင်ကြည့်ကြည့် တည်ငြိမ်လျက်ရှိသည်ကို တွေ့မြင်ရသည်။ လှုပ်ရှားသွားလာ နေသည်ကိုမူ မတွေ့ရပေ၊ မမြင်ရပေ။ သို့တစေ ပညာရှင်များ၏ ပြောပြချက်အရ ပထဝီမြေကြီး လှုပ်ရှားသွားလာနေသည်ကို မတွေ့ရဘဲလျက်၊ မမြင်ရဘဲလျက် ယုံကြည်ကြရပေသည်။ ဤတွင် သိထားအပ်သည်မှာ ပညာရှင်များ၏ အသိပညာအမြော်အမြင်များသည် အဘယ်မျှပင် ထက်မြက်သည်၊ ပေါက်ရောက်သည်ဟု ဆိုလင့်ကစား အမှေအမှားကား မကင်းနိုင်ပေ။ အမှေအမှား လုံးဝကင်းသော အရာကား အလ္လာဟ်အရှင်မြတ်ထံတော်မှ ကျရောက်လာခဲ့သော (ဝဟီ) အာယတ်တော်များသာလျှင် ဖြစ်ချေသည်။ သို့ဖြစ်ရာ ဉာဏ်မမီသောကိစ္စများတွင် အလ္လာဟ်အရှင်မြတ်၏ အာယတ်တော်များကိုသာလျှင် လုံးဝယုံကြည်အားထားကြရပေမည်။ ကျွန်ုပ်တို့သည် လူ့လောကတွင် မြောက်မြားစွာသောပစ္စည်းများကို မတွေ့မမြင်ရဘဲလျက် မျက်စိအမြင်နှင့် ဆန့်ကျင်နေပါလျက် ယုံကြည်နေကြရသည်ဖြစ်ရာ၊ မိမိတို့ဉာဏ်မမီသောကိစ္စများနှင့် စပ်လျဉ်း၍ ဂျန္နတ်၊ ဂျဟန္နမ် စသည်များနှင့်စပ်လျဉ်း၍ တမန်တော်မြတ် ဟောကြားတော်မူသည်များကို ယုံကြည်လက်ခံရာတွင် အသို့လျှင် အခက်အခဲရှိနိုင်အံ့နည်း။

(၁) အကယ်တန္တိ (မပြောကောင်း မဆိုအပ်) တမန်တော်မြတ်သည် အလ္လာဟ်အရှင်မြတ်အပေါ်တွင် အချို့သော စကားများကို လုပ်ကြံယိုးစွပ်ပြောဆိုတော်မူခဲ့သည်ရှိသော်၊ သို့တည်းမဟုတ် အလ္လာဟ်အရှင်မြတ်၏ အာယတ်တော်များတွင် မိမိဘက်မှ လုပ်ကြံထည့်သွင်းဖြည့်စွက် ပြောကြားတော်မူခဲ့သည်ရှိသော်၊ သို့တည်းမဟုတ် အချို့အာယတ်တော်များကို ထိန်ဝှက်ထားခဲ့သည်ရှိသော် အလ္လာဟ်အရှင်မြတ်သည် တမန်တော်မြတ်အားပင် ➤➤

وَإِنَّهُۥ لَتَذْكِرَةٌ لِّلْمُتَّقِينَ ﴿٤٨﴾

၄၈။ စင်စစ်သော်ကား ယင်းကုရ်အာန်ကျမ်းတော်မြတ်သည် "မွတ္တကီ" သူတော်စင်တို့အဖို့ ဆုံးမသြဝါဒပင် ဖြစ်ပေသည်။

وَإِنَّا لَنَعْلَمُ أَنَّ مِنكُم مُّكَذِّبِينَ ﴿٤٩﴾

၄၉။ ၎င်းပြင် ဧကန်စင်စစ် ငါအရှင်မြတ်သည် အသင်တို့အနက် (ယင်းကုရ်အာန်ကျမ်းတော်မြတ်)ကို မဟုတ်မမှန်ဟူ၍ စွပ်စွဲငြင်းပယ်သူများလည်း ရှိနေကြောင်း ကောင်းစွာ သိရှိတော်မူသည်။

وَإِنَّهُۥ لَحَسْرَةٌ عَلَى ٱلْكَٰفِرِينَ ﴿٥٠﴾

၅၀။ ထို့ပြင် ယင်းကုရ်အာန်ကျမ်းတော်မြတ်သည် ကာဖိရ် သွေဖည်ငြင်းပယ်သူတို့နှင့် ပတ်သက်၍ ဝမ်းနည်း ကြေကွဲဖွယ်ရာပင် ဖြစ်သည်။ [၁]

---

➤➤ ဤအာယတ်တော်တွင် လာရှိသည့်အတိုင်း မလွဲမသွေ အရေးယူကွပ်မျက်တော်မူမည်သာဖြစ်သည်။ ယင်းသို့ အရေးယူတော်မမူပါက အလ္လာဟ်အရှင်မြတ်ထံတော်မှ ကျရောက်လာခဲ့သော အာယတ်တော်များတွင်ပင် ဒွိဟာသံသယများ ဝင်လာပေမည်၊ အလ္လာဟ်အရှင်မြတ်၏ အာယတ်တော်များသည်ပင်လျှင် ယုံကြည်စိတ်ချဖွယ်ရာ ဖြစ်တော့မည်မဟုတ်ပေ။ သို့ဖြစ်ရလျှင် တရားဟောကြားမှုသည် အသို့လျှင် ဖြစ်နိုင်တော့အံ့နည်း။ ဤသို့ကား အလျှင်းမဖြစ်နိုင်။

မန္တိုင်းစကောင်း ဘုရင်တစ်ပါးသည် ပုဂ္ဂိုလ်တစ်ဦးအား တိုင်းတစ်ပါးသို့ တရားဝင်ခန့်စာပေး၍ သံတမန်အဖြစ် စေလွှတ်အံ့၊ အကယ်တန္တိ ထိုသံတမန်သည် မိမိအား ခန့်အပ်လိုက်သော ဘုရင်နှင့်ပတ်သက်၍ မဟုတ်မမှန် ယိုးစွပ်ပြောဆိုအံ့၊ သို့မဟုတ် မိမိတိုင်းပြည်အပေါ်၌ သစ္စာဖောက်အံ့၊ သို့ဖြစ်လျှင် ထိုဘုရင်သည် ထိုပုဂ္ဂိုလ်အား ချက်ချင်းအရေးယူ၍ ကြီးလေးသော ပြစ်ဒဏ်စီရင်မည်သာဖြစ်အံ့။ သာမန်ဘုရင်တစ်ပါးသည်ပင် မိမိအား သစ္စာဖောက်သော သံတမန်ကို အရေးယူသည်ဖြစ်ရာ၊ အလ္လာဟ်အရှင်မြတ်သည် မိမိခန့်အပ် စေလွှတ်ထားတော်မူသော တမန်တော်တစ်ပါးပါးက အကယ်တန္တိ သစ္စာဖောက်ခဲ့သည်ရှိသော် အသို့လျှင် လျစ်လျူပြုထားတော်မူအံ့နည်း။

ဆိုလိုသည်ကား ကုရ်အာန်ကျမ်းမြတ်သည် အလ္လာဟ်အရှင်မြတ်ထုတ်ပြန်ချမှတ်တော်မူခဲ့သော ကျမ်းဂန်ဓမ္မက္ခန် အစစ်အမှန်ဖြစ်သည်။ တမန်တော်မြတ်သည် ကုရ်အာန်ကျမ်းမြတ်တွင် မိမိဘက်မှ တစ်လုံးတစ်ပါဒမျှပင် ထည့်သွင်းဖြည့်စွက်ထားတော်မူသည် အလျှင်းမရှိ။ (ပွင့်လေသမျှ တမန်တော်အပေါင်းတွင် မည်သည့်တမန်တော်တစ်ပါးမျှလည်း မိမိထံသို့ ကျရောက်လာခဲ့သော အာယတ်တော်များတွင် မိမိဘက်မှ တစ်လုံးတစ်ပါဒမျှ ထည့်သွင်း ဖြည့်စွက်ခဲ့ဖူးသည်ဟူ၍လည်း အလျှင်းမရှိ။)

(၁) ကုရ်အာန်ကျမ်းမြတ်သည် (မွတ္တကီ) အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ရိုသေခန့်ညားသော ပုဂ္ဂိုလ်များအဖို့ အမှန်မုချ အဆုံးအမသြဝါဒတော်ဖြစ်သည်။ အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ရိုသေခန့်ညားမှုမရှိသော ကာဖိရ်များမှုကား ကုရ်အာန်ကျမ်းမြတ်ဖြင့် အသို့မျှ အကျိုးခံစားနိုင်ကြမည် မဟုတ်သည်သာမက၊ ➤➤

وَإِنَّهُۥ لَحَقُّ ٱلْيَقِينِ ٥١

၅၁။ ထိုမှတစ်ပါး ယင်းကုရ်အာန်ကျမ်းတော်မြတ်သည် တပ်အပ်သေချာ ထင်ရှားသိမြင်နိုင်သော အမှန်တရားပင် ဖြစ်သည်။

فَسَبِّحْ بِٱسْمِ رَبِّكَ ٱلْعَظِيمِ ٥٢

၅၂။ သို့ဖြစ်ပေရာ (အို-နဗီတမန်တော်) အသင်သည် မိမိအား ဖန်ဆင်းမွေးမြူတော်မူသော၊ ထူးကဲမြင့်မြတ်တော်မူသော၊ အရှင်မြတ်၏(နာမံတော်)ကို စင်ကြယ်သန့်ရှင်းတော်မူကြောင်း မြွက်ဆို(ချီးမွမ်း)ပါလေ။ [၁]

➤➤ ကုရ်အာန်ကျမ်းမြတ်နှင့် စပ်လျဉ်း၍ပင် မဟုတ်မမှန် လုပ်ကြံပြောဆိုကြပေဦးမည်။ သို့ရာတွင် မကြာမီအတွင်း၌ပင် ယင်းသို့သောကာဖိရ်များသည် ကုရ်အာန်ကျမ်းမြတ်နှင့်စပ်လျဉ်း၍ ပြောမှားဆိုမှားဖြစ်ခဲ့ကြရသည့်အတွက် ကြေကွဲဝမ်းနည်းကြရပေမည်။ နောင်တ ရကြရပေမည်။ အလာကောင်းသော်လည်း အခါနှောင်းချေပြီဆိုသကဲ့သို့ အကျိုးကား ရှိမည်မဟုတ်ပေ။

(၁) အချုပ်ဆိုရသော် ကုရ်အာန်ကျမ်းမြတ်သည် မလွဲမသွေ၊ တပ်အပ်သေချာ အထင်သား၊ အမြင်သား၊ အထင်အရှား သိမြင်နိုင်သော အမှန်တရားပင်ဖြစ်သည်။ အသူ အသို့ဆိုဆို အမှန်တရားသည် အမှန်တရားပင်။ သို့ဖြစ်ရာ ယင်းသို့သော ကျမ်းမြတ်ကို နှစ်နှစ်ကာကာ သံသယကင်းစွာ ယုံကြည်ကာ၊ မိမိအား ဖန်ဆင်းမွေးမြူတော်မူသော ထူးကဲမြင့်မြတ်တော်မူသော အရှင်မြတ်အား အခါမလပ် ဂုဏ်တော်မွှန်း၍ နေရာသတည်း။

# အဆင့်အတန်းများကဏ္ဍ

سُوْرَةُ الْمَعَارِجِ

ဤကဏ္ဍသည်"အလ်မအာရိဂ်ျ" "အဆင့်အတန်းများ"ကဏ္ဍမည်၏။
မက္ကာမြို့တော်၌ကျရောက်ခဲ့၏။ ဤကဏ္ဍတွင် အာယတ်တော် (၄၄)ပါး၊
ရုကူအ်အပိုဒ် (၂)ပိုဒ်၊ အသီးသီးပါရှိ၏။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ

အလွန်တရာ ကြင်နာသနားတော်မူသော၊
ကရုဏာတော်ရှင် ဖြစ်တော်မူသော၊
အလ္လာဟ်အရှင်မြတ်၏နာမံတော်ဖြင့် အစပြုပါ၏။

سَاَلَ سَآئِلٌۢ بِعَذَابٍ وَّاقِعٍ ۝١

၁။ တောင်းဆိုသူတစ်ဦးသည် ကျရောက်အံ့သော ပြစ်ဒဏ်ကို တောင်းဆို၏။

لِّلْكٰفِرِيْنَ لَيْسَ لَهٗ دَافِعٌ ۝٢

၂။ ကာဖိရ် သွေဖည်ငြင်းပယ်သောသူတို့အပေါ် ဝယ် ယင်းပြစ်ဒဏ်ကို တွန်းလှန် ဖယ်ရှားအံ့သောသူ ဟူ၍ တစ်ဦးတစ်ယောက်မျှပင်မရှိပြီ။ [၁]

مِّنَ اللّٰهِ ذِى الْمَعَارِجِ ۝٣

၃။ လှေကား အဆင့်အထစ် အဆင့်အတန်းများ ကို ပိုင်ဆိုင်တော်မူသော အလ္လာဟ်အရှင်မြတ်ထံတော် မှ (ကျရောက်မည်)ဖြစ်သော။

---

(၁) တရားတော်များကို ဆက်လက်၍ သွေဖည်ငြင်းဆန်နေကြပါက အနေးနှင့်အမြန် ကာဖိရ်များထံ ပြစ်ဒဏ် သက်ရောက်လာမည့်အကြောင်း တမန်တော်မြတ်သည် ကာဖိရ်များအား သတိပေးတော်မူလေ့ရှိခဲ့၏။ ထိုအခါ ကာဖိရ်များက ပြက်ရယ်သည့်သဘောဖြင့် ပြစ်ဒဏ်အမြန်ဆိုက်ရောက်ရန် တောင်းဆိုခဲ့ကြ၏။ ကာဖိရ်များသည် ပြစ်ဒဏ်ကို တောင်းဆိုကြသည်ပင်ဖြစ်စေ၊ မတောင်းဆိုကြသည်ပင်ဖြစ်စေ၊ ပြစ်ဒဏ်သည် ၎င်းတို့၌ အမှန်မုချ ဆိုက်ရောက်မည်ပင်ဖြစ်၏။ ပြစ်ဒဏ်ဆိုက်ရောက်လာသည့်အခါ အသူမျှ ကာကွယ်ဖယ်ရှားပေးနိုင်မည်လည်း မဟုတ်ပေ၊ သို့ပါလျက် ယင်းသို့ ပြစ်ဒဏ်ကို တောင်းဆိုခြင်းမှာ ကမ်းကုန်အောင်မိုက်မဲခြင်းပင်။

تَعْرُجُ الْمَلٰٓئِكَةُ وَالرُّوْحُ اِلَيْهِ فِىْ يَوْمٍ كَانَ مِقْدَارُهٗ خَمْسِيْنَ اَلْفَ سَنَةٍ ۚ ④

၄။ မလာအိကဟ် ကောင်းကင်တမန်များသည်လည်းကောင်း၊ (ရုဟ်)အသက်ဇီဝိန်များသည်လည်းကောင်း၊ ထိုအရှင်မြတ်ထံတော်သို့ တက်ရောက်သွားကြပေသည်။ [၁] အကြင်နေ့တွင် ယင်းနေ့၏ အတိုင်းအတာသည် ဤပစ္စက္ခ၏ နှစ်ပေါင်းငါးသောင်းနှင့် ညီမျှသည်။ [၂]

فَاصْبِرْ صَبْرًا جَمِيْلًا ⑤

၅။ သို့ဖြစ်ပေရာ (အို-နဗီတမန်တော်) အသင်သည် ကောင်းမွန်သောခန္တီတရားကိုထားရှိပါလေ။ [၃]

اِنَّهُمْ يَرَوْنَهٗ بَعِيْدًا ۙ ⑥

၆။ ဧကန်မလွဲ ၎င်းတို့သည် ယင်းပြစ်ဒဏ်နေ့ကို ဝေးသည်ဟု မြင်ကြ၏။

وَّنَرٰىهُ قَرِيْبًا ۗ ⑦

၇။ ငါအရှင်မြတ်မှာမူ ယင်းပြစ်ဒဏ်နေ့ကို အနီးဌပင် မြင်နေတော်မူပေသတည်း။ [၄]

---

(၁) ဆိုလိုသည်ကား ကောင်းကင်တမန်များနှင့် မုအ်မင်န်သူတော်စင်တို့၏ အသက်ဇီဝိန်များသည် ကောင်းကင်များကို အဆင့်ဆင့်ကျော်တက်ကာ အလ္လာဟ်အရှင်မြတ်၏ထံတော်ပါးသို့ ရောက်ရှိကြကုန်၏။ တစ်နည်း လူသားတို့သည် အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်များကို ဦးထိပ်ရွက်ပန်ဆင်ကာ ကောင်းမြတ်သော အကျင့်သီလများနှင့် ပြည့်စုံကာ ထံတော်ပါးသို့ ချဉ်းကပ်မှုဆိုင်ရာ နာမ်ပိုင်း အဆင့်အတန်းများကို ကျော်လွန်၍ ထိုအရှင်မြတ်၏ ရှေ့တော်မှောက်သို့ပင် ရောက်ရှိကြ၏။

(၂) ဤအာယတ်တော်တွင်ပါရှိသော နေ့ဟူသည် ကိယာမတ်နေ့ကိုဆိုလိုသည်။ ကိယာမတ်နေ့သည် ဤပစ္စက္ခ၏ အတိုင်းအတာအရဆိုလျှင် နှစ်ပေါင်းငါးသောင်းနှင့် ညီမျှသည်။

ကိယာမတ်နေ့သည် အတိုင်းမသိ ကြောက်မက်ဖွယ်ကောင်းလှပေသည်၊ ထိုနေ့သည် အဘယ်မျှ ရှည်လျားမည်ကို အလ္လာဟ်အရှင်မြတ်သာလျှင် အတိအကျ သိရှိတော်မူပေသည်။

ပြစ်မှုသောင်းခြောက်ထောင် ကျူးလွန်ထားကြသော ကာဖိရ်များအဖို့ ကိယာမတ်နေ့သည် အတိုင်းမသိ ရှည်လျားနေမည် ဖြစ်သော်လည်း၊ မုအ်မင်န် သူတော်စင်များအဖို့မှာကား ထိုမျှရှည်လျားသောအချိန်သည်ပင် ဖရည်သွ်ဆွလာတ် တစ်ကြိမ်ဝတ်ပြုရာတွင် အချိန်ကုန်သည်နှင့်အမျှသာ အချိန်ကြာပေမည်။ မုအ်မင်န်များသည် ကာဖိရ်များအလား စိုးရိမ်ကြောင့်ကြ ပူပန်သောက ဖြစ်ကြရမည်လည်း မဟုတ်ပေ။

ကြည့်-ကုရ်အာန်(၂း၆၂။ ၂း၂၆၂။ ၂း၂၇၄။ ၂း၂၇၇။ ၂၁း၁၀၃။ ၂၇း၈၉။)

(၃) ကာဖိရ်များသည် ပြက်ရယ်သည့်သဘောဖြင့် ပြစ်ဒဏ်ကို အလျင်စလို တောင်းဆိုနေကြသော်လည်း တမန်တော်မြတ်သည် အလျင်စလိုပြုတော်မမူရာ၊ စိတ်ပျက်တော်မမူရာ၊ ညည်းညူတော်မမူရာ၊ သည်းခံတော်မူရမည်သာ၊ တမန်တော်မြတ်၏ သည်းခံမှုနှင့် ကာဖိရ်များ၏ ပျက်ရယ်မှုသည် မကြာမီ အကောင်အထည် ပေါ်လာမည်သာ။

| | |
|---|---|
| ၈။ (ယင်းပြစ်ဒဏ်သည်) အကြင်နေ့တွင် (ကျရောက်အံ့၊) ထိုနေ့တွင် မိုးကောင်းကင်မှာ ဆီအနည်အရည်ကျိုထားသော (ကြေးနီ၊ ကြေးဝါ၊ ငွေစသည့်) တွင်းထွက်သတ္တုကဲ့သို့ ဖြစ်သွားပေမည်။ | يَوْمَ تَكُونُ السَّمَآءُ كَالْمُهْلِ ﴿٨﴾ |
| ၉။ ၎င်းပြင် တောင်များမှာ အရောင်ဆိုးထားသော သိုးမွေးများကဲ့သို့ ဖြစ်သွားပေမည်။ | وَتَكُونُ الْجِبَالُ كَالْعِهْنِ ﴿٩﴾ |
| ၁၀။ ၎င်းပြင် အဆွေခင်ပွန်း တစ်ဦးတစ်ယောက်ကမျှပင် မည်သည့်အဆွေခင်ပွန်းကိုမျှပင် မေးမြန်းမည် မဟုတ်ပေ။ | وَلَا يَسْـَٔلُ حَمِيمٌ حَمِيمًا ﴿١٠﴾ |
| ၁၁။ (စင်စစ်) ၎င်းတို့သည် အချင်းချင်း ပြသခြင်းကိုလည်းခံကြရပေမည်။ (ထိုနေ့တွင်) အပြစ်ရှိသောသူသည် ထိုနေ့၏ပြစ်ဒဏ်မှ (လွတ်မြောက်ရန်) မိမိသားများအားလည်းကောင်း၊ | يُبَصَّرُونَهُمْ يَوَدُّ الْمُجْرِمُ لَوْ يَفْتَدِى مِنْ عَذَابِ يَوْمِئِذٍۭ بِبَنِيهِ ﴿١١﴾ |
| ၁၂။ မိမိကြင်ဖော်အားလည်းကောင်း၊ မိမိညီအစ်ကိုများအားလည်းကောင်း၊ | وَصَاحِبَتِهِۦ وَأَخِيهِ ﴿١٢﴾ |
| ၁၃။ မိမိအား ခိုလှုံနေထိုင်ရာနေရာပေးသောဆွေမျိုးသားချင်းကိုလည်းကောင်း၊ ① | وَفَصِيلَتِهِ الَّتِى تُـْٔوِيهِ ﴿١٣﴾ |
| ၁၄။ ပထဝီမြေဝယ် ရှိကုန်သောသူ အားလုံးတို့အားလည်းကောင်း၊ အစားထိုး လျော်ကြေးပေးပြီးနောက် ထိုလျော်ကြေးသည် မိမိအား လွတ်မြောက်စေလျှင်ကောင်းလေစွဟု အာသာဆန္ဒရှိပေမည်။ | وَمَن فِى الْأَرْضِ جَمِيعًا ثُمَّ يُنجِيهِ ﴿١٤﴾ |

⑨ ကိယာမတ်နေ့နှင့်စပ်လျဉ်း၍ ကာဖိရ်များက ဤသည်မဖြစ်နိုင်၊ ဉာဏ်မမီ၊ အသိဉာဏ်နှင့် အလွန်ကွာဝေးသည်ဟု ထင်မှန်နေကြသည်။ အမှန်မှာ ကိယာမတ်သည် မဖြစ်နိုင်သော အရာလည်းမဟုတ်၊ ဉာဏ်မမီသောအရာလည်းမဟုတ်၊ အသိဉာဏ်နှင့် အလွန်ကွာဝေးသည်လည်း မဟုတ်၊ ကိယာမတ်သည် အမှန်ဖြစ်မည်၊ မုချဖြစ်မည်၊ မကြာမီဖြစ်တော့မည်။ မဝေးလှတော့ပြီ၊ နီးကပ်လျက်ရှိချေပြီ။

① ဤအာယတ်တော်တွင်ပါရှိသော "ဖဆီလဟ်" ဟူသောပုဒ်ကို ပညာရှင်များသည် မျိုးနွယ်ဟူ၍လည်းကောင်း၊ သားချင်းဟူ၍လည်းကောင်း၊ မိခင်ဟူ၍လည်းကောင်း အမျိုးမျိုးအနက်ဖွင့်ဆိုကြသည်။ ကြည့်-ဣဗ်နုကဆီရ်။

كَلَّا ۖ إِنَّهَا لَظَىٰ ﴿١٥﴾

၁၅။ (ထိုသို့) အလျှင်း မဖြစ်နိုင်ပေ။ ဧကန်စင်စစ် ယင်း(ငရဲမီး)မှာ ဟုန်းဟုန်းတောက်လျက်ရှိသော

نَزَّاعَةً لِّلشَّوَىٰ ﴿١٦﴾

၁၆။ အရေကို ခွာပစ်အံ့သော မီးတောက်မီးလျှံပင် ဖြစ်ပေသည်။

تَدْعُوا مَنْ أَدْبَرَ وَتَوَلَّىٰ ﴿١٧﴾

၁၇။ ယင်းမီးကား (လောကီဘဝ၌ အီမာန်သက်ဝင်ယုံကြည်ခြင်းမပြုဘဲ) မျက်နှာလွှဲ ကျောခိုင်း၍ ထွက်သွားခဲ့သော၊

وَجَمَعَ فَأَوْعَىٰ ﴿١٨﴾

၁၈။ (ပစ္စည်းဥစ္စာ) စုဆောင်း၍ လုံခြုံစွာ သိုမှီး ထိန်းသိမ်းခဲ့သောသူများအား ခေါ်ယူပေမည်။ ၁

إِنَّ الْإِنسَانَ خُلِقَ هَلُوعًا ﴿١٩﴾

၁၉။ စင်စစ်ဧကန် "မနုဿ" လူသားမှာ လွန်စွာ စိတ်စောသူ၊ သည်းမခံနိုင်သောသူအဖြစ် ဖန်ဆင်းခြင်းကို ခံခဲ့ရလေ၏။

إِذَا مَسَّهُ الشَّرُّ جَزُوعًا ﴿٢٠﴾

၂၀။ ၎င်း၌ဘေးဒုက္ခသက်ရောက်သောအခါ လွန်စွာ ညည်းညူတတ်သူ ဖြစ်၏။

وَإِذَا مَسَّهُ الْخَيْرُ مَنُوعًا ﴿٢١﴾

၂၁။ သို့ရာတွင် ၎င်း၌ ချောင်လည်မှု ကောင်းစားမှု သက်ရောက်သောအခါ လွန်စွာ တွန့်တိုစေးနဲတတ်သူ ဖြစ်၏။ ၂

---

① လူ့လောကတွင်ရှိစဉ် အမှန်တရားကိုကျောခိုင်းခဲ့သော၊ အမိန့်တော်ကို သွေဖည်ခဲ့သော၊ လောဘရမ္မက်ကြီးစွာဖြင့် ဥစ္စာပစ္စည်း စုဆောင်း၍ သိုလှောင်ထိမ်းသိမ်းခဲ့သော ကာဖိရ်များကို ကိယာမတ်နေ့တွင် ဂျဟန္နမ်ငရဲကပင် တစ်ဦးချင်းခေါ်ယူပေမည်။ မြေမှ တိရစ္ဆာန်များ အစာကောက်ယူသကဲ့သို့ ငရဲသည် သက်ဆိုင်ရာတို့အား ကောက်ယူပေမည်။ ငရဲကား ကြောက်ဖွယ်ပါတကား၊ ကြည့်-အွတ်ဆ်မာနီ၊ ဣဗ်နုကဆီရ်။

② ဤအာယတ်တော်တွင်ပါရှိသော "လူသား" ဟူသည် ကာဖိရ်ကို ဆိုလိုသည်။ အဘယ်ကြောင့်ဆိုသော် ကာဖိရ်လူသား၏အကြောင်း နောက်တွင် တစ်ဆက်တည်း မုအ်မင်န်များ၏ အကြောင်းကို မိန့်ဆိုထားတော်မူသည်။

ကာဖိရ်သည် အလွန်စိတ်စောသည်၊ သတ္တိကြောင်သည်၊ သည်းမခံနိုင်၊ ဤသည် စိတ်စောမှု၊ သတ္တိကြောင်မှု၊ သည်းမခံနိုင်မှုသည် မူလဇာတိ သဘာဝအလျောက်မဟုတ်၊ ယင်း၏စေတနာအလျောက် ရွေးချယ်ပြုလုပ်မှု၊ ဆည်းပူးမှု၏ အကျိုးဆက်ပင်ဖြစ်သည်။ ကာဖိရ်သည် ဘေးဒုက္ခဖြစ်လျှင် အတိုင်းထက်အလွန် ညည်းညူတတ်သည်။ သုခချမ်းသာဖြစ်လျှင် တစ်ပြားတစ်ချပ်မျှ မလှူဒါန်းလိုပေ၊ လွန်စွာစေးနဲသည်။ ➢➢

إِلَّا الْمُصَلِّينَ ﴿٢٢﴾

၂၂။ သို့ရာတွင် "ဆွလာတ်" ဝတ်ပြုသူတို့မှာမူ ကား (ထိုကဲ့သို့ မဟုတ်ကြချေ။)

الَّذِينَ هُمْ عَلَىٰ صَلَاتِهِمْ دَائِمُونَ ﴿٢٣﴾

၂၃။ အကြင်("ဆွလာတ်" ဝတ်ပြုသူ)တို့သည် မိမိတို့၏"ဆွလာတ်"ဝတ်ပြုမှုပေါ်၌ စွဲမြဲလျက် ရှိကြကုန်၏။

وَالَّذِينَ فِي أَمْوَالِهِمْ حَقٌّ مَّعْلُومٌ ﴿٢٤﴾

၂၄။ ၎င်းပြင် အကြင်("ဆွလာတ်"ဝတ်ပြု)သူတို့သည် ၎င်းတို့၏ပစ္စည်းဥစ္စာများ၌ သိရှိသတ်မှတ်ပြီး ဖြစ်သော အခွင့်အရေးသည်ရှိပေ၏။

لِّلسَّائِلِ وَالْمَحْرُومِ ﴿٢٥﴾

၂၅။ တောင်းရမ်းသောသူ၏အဖို့လည်းကောင်း၊ (သိက္ခာကိုစောင့်စည်းသောအားဖြင့်) တောင်းရမ်းခြင်း မပြုသောသူ၏အဖို့လည်းကောင်း၊

وَالَّذِينَ يُصَدِّقُونَ بِيَوْمِ الدِّينِ ﴿٢٦﴾

၂၆။ ထို့ပြင် အကြင်(ဆွလာတ်ဝတ်ပြု)သူတို့သည် အစားပေးမည့်နေ့ကို ဟုတ်မှန်သည်ဟု ယုံကြည် ထောက်ခံကြကုန်၏။

وَالَّذِينَ هُم مِّنْ عَذَابِ رَبِّهِم مُّشْفِقُونَ ﴿٢٧﴾

၂၇။ ထို့ပြင် အကြင်(ဆွလာတ်ဝတ်ပြု)သူတို့သည် မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်၏ အပြစ်ဒဏ်ကို ကြောက်ရွံ့စိုးရိမ်လျက် ရှိကြကုန်၏။

إِنَّ عَذَابَ رَبِّهِمْ غَيْرُ مَأْمُونٍ ﴿٢٨﴾

၂၈။ စင်စစ်ဧကန် ၎င်းတို့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်၏ ပြစ်ဒဏ်မှာ စိုးရိမ်ခြင်းကင်းစွာ နေထိုင်နိုင်သော အရာမဟုတ်ပြီ။

وَالَّذِينَ هُمْ لِفُرُوجِهِمْ حَافِظُونَ ﴿٢٩﴾

၂၉။ ၎င်းပြင် အကြင်(ဆွလာတ်ဝတ်ပြု)သူတို့သည် မိမိတို့၏အရှက်အင်္ဂါများကို ထိန်းသိမ်းကြကုန်၏။

---

➤➤ ဤသည် ကာဖိရ်၏အကျင့်အမူပင်၊ စရိုက်ပင်။ ရှေ့တွင် မုအ်မင်န်များ၏ ဂုဏ်ရည်များကို မိန့်ဆိုထားတော်မူသည်။ ကြည့်-မာဂျိဒီ။

إِلَّا عَلَىٰٓ أَزْوَٰجِهِمْ أَوْ مَا مَلَكَتْ أَيْمَٰنُهُمْ فَإِنَّهُمْ غَيْرُ مَلُومِينَ ﴿٣٠﴾

၃၀။ မိမိတို့၏ ဇနီးမိန်းမများမှတစ်ပါး၊ သို့တည်းမဟုတ် မိမိတို့၏လက်ယာလက်များက ပိုင်ဆိုင်သော (တရားဝင်) ကျွန်မိန်းမများမှတစ်ပါး၊ အကြောင်းသော်ကား (မိမိတို့၏ ဇနီးမိန်းမများနှင့်သော်လည်းကောင်း၊ တရားဝင်ကျွန်မိန်းမများနှင့်သော်လည်းကောင်း၊ ကာယသံသဂ္ဂ ပြုခြင်းအားဖြင့်) ၎င်းတို့မှာ ကဲ့ရဲ့ပြစ်တင်ခြင်း ခံထိုက်သောသူများ မဟုတ်သောကြောင့်ပင်။

فَمَنِ ٱبْتَغَىٰ وَرَآءَ ذَٰلِكَ فَأُو۟لَٰٓئِكَ هُمُ ٱلْعَادُونَ ﴿٣١﴾

၃၁။ သို့ရာတွင် ထို(ဇနီးမိန်းမများ သို့မဟုတ် တရားဝင် ကျွန်မိန်းမများ)မှတစ်ပါးကို တောင့်တရှာဖွေကြကုန်သောသူများမှာကား (တရားတော်၏) စည်းကမ်းကို ဖောက်ဖျက် ကျူးလွန်သောသူများပင် ဖြစ်ကြကုန်၏။

وَٱلَّذِينَ هُمْ لِأَمَٰنَٰتِهِمْ وَعَهْدِهِمْ رَٰعُونَ ﴿٣٢﴾

၃၂။ ထို့ပြင် အကြင်(ဆွလာတ်ဝတ်ပြု)သူတို့သည် မိမိတို့ ယုံကြည်လွှဲအပ်ခြင်းခံကြရသည်တို့ကိုလည်းကောင်း၊ မိမိတို့၏ ကတိဝန်ခံချက်များကိုလည်းကောင်း၊ စောင့်စည်း ထိန်းသိမ်းသူများပင် ဖြစ်ကြကုန်၏။

وَٱلَّذِينَ هُم بِشَهَٰدَٰتِهِمْ قَآئِمُونَ ﴿٣٣﴾

၃၃။ ထို့ပြင် အကြင်(ဆွလာတ်ဝတ်ပြု)သူတို့သည် မိမိတို့၏ သက်သေခံချက်များကို တိကျမှန်ကန်စွာ ထွက်ဆိုကြကုန်၏။

وَٱلَّذِينَ هُمْ عَلَىٰ صَلَاتِهِمْ يُحَافِظُونَ ﴿٣٤﴾

၃၄။ ထိုမှတစ်ပါး အကြင်(ဆွလာတ်ဝတ်ပြု)သူတို့သည် မိမိတို့၏"ဆွလာတ်"ဝတ်ပြုမှုကို အမြဲမပြတ် စောင့်ထိန်းကြကုန်၏။

أُولَٰٓئِكَ فِي جَنَّٰتٍ مُّكْرَمُونَ ٣٥

၃၅။ ထိုသူတို့ကား“ဂျန္နတ်”သုခဘုံများဝယ် ဂုဏ်အသရေရှိစွာ စံစားကြရကုန်အံ့သတည်း။ ၁

فَمَالِ ٱلَّذِينَ كَفَرُوا۟ قِبَلَكَ مُهْطِعِينَ ٣٦

၃၆။ သို့ဖြစ်ပေရာ ကာဖိရ် သွေဖည်ငြင်းပယ်သော သူတို့သည် မည်သည့်အကြောင်းကြောင့် အသင့်ဘက်သို့ လျှင်မြန်စွာ ပြေးလာလျက်ရှိကြသနည်း။

عَنِ ٱلْيَمِينِ وَعَنِ ٱلشِّمَالِ عِزِينَ ٣٧

၃၇။ လက်ယာဘက်မှလည်းကောင်း၊ လက်ဝဲဘက်မှလည်းကောင်း၊ အဖွဲ့လိုက်၊ အဖွဲ့လိုက်၊

أَيَطْمَعُ كُلُّ ٱمْرِئٍ مِّنْهُمْ أَن يُدْخَلَ جَنَّةَ نَعِيمٍ ٣٨

၃၈။ ၎င်းတို့အနက် လူတိုင်းသည် စည်းစိမ်ချမ်းသာနှင့် ပြည့်စုံလျက်ရှိသော ဂျန္နတ်သုခဘုံသို့ ဝင်ရောက်ရန် အလိုရမ္မက် ရှိလေသလော။ ၂

---

(၁) ဤအာယတ်တော်တွင် မုအ်မင်န်များ၏ ဂုဏ်ရည်(၈)ခုကို အထူးတလည် ထုတ်ဖော်မိန့်ဆိုထားတော်မူသည်။ ဆွလာတ်ဝတ်ပြုမှုမှ စတင်တော်မူသည်၊ ဆွလာတ်ဝတ်ပြုမှုနှင့်ပင် အဆုံးသတ်ထားတော်မူသည်။ ဤသည်ကို ထောက်ရှုခြင်းအားဖြင့် ဆွလာတ်ဝတ်ပြုမှုသည် အဘယ်မျှ အရေးကြီးလှသည်ကို ကောင်းစွာသိနိုင်ပေသည်။ သင်းသည့် ဂုဏ်ရည်များနှင့်ပြည့်စုံသော မုအ်မင်န်တစ်ဦးသည် ကာဖိရ်အလား အသို့လျှင် သတ္တိကြောင်အံ့နည်း၊ စိတ်စောနိုင်အံ့နည်း၊ အသို့လျှင် သည်းမခံဘဲရှိနိုင်အံ့နည်း၊ အသို့လျှင် စေးနဲနိုင်အံ့နည်း။ မုအ်မင်န်သည် အလ္လာဟ်အရှင်မြတ်အပေါ်၌ သစ္စာရှိသည်၊ ဆွလာတ်ဝတ်ပြုမှုကို မှန်ကန်တိကျစွာ စောင့်စည်းသည်၊ ဆင်းရဲသူ ဆင်းရဲသားတို့အား ပေးကမ်းလှူဒါန်းသည်၊ ကျိုး-ပြစ် စီရင်မည့် ကိယာမတ်နေ့ကို ယုံကြည်ထောက်ခံသည်။ အလ္လာဟ်အရှင်မြတ်၏ ပြစ်ဒဏ်ကို အခါခပ်သိမ်း ကြောက်ရွံ့ကာနေသည်၊ မိမိ၏ ကာယိန္ဒြေကို ထိန်းသိမ်းသည်၊ မိမိထံ အပ်နှံထားသောအရာကို သက်ဆိုင်ရာတို့အား ရိုးသားစွာ ပြန်အပ်သည်၊ ကတိတည်သည်၊ သက်သေ ထွက်ဆိုရန်ရှိက ရိုးသားဖြောင့်မတ် မှန်ကန်စွာ ထွက်ဆိုသည်။ ဤသည် မုအ်မင်န်၏ ဂုဏ်ရည်များပင်။ ယင်းသို့သောဂုဏ်ရည်များနှင့် ပြည့်စုံသော မုအ်မင်န်များသည် ဂျန္နတ်သုခဘုံများတွင် ဂုဏ်ရှိရှိ သိက္ခာရှိရှိ စံစားကြရမည်ပင်။

(၂) ဆိုလိုသည်ကား တမန်တော်မြတ်က ကုရ်အာန်ကျမ်းမြတ်ကို ရွတ်ဖတ်၍ ဂျန္နတ်နှင့် ဂျဟန္နမ်အကြောင်း ဟောကြားတော်မူသည့်အခါ ကာဖိရ်များသည် တမန်တော်မြတ်ထံသို့ အုပ်စုဖွဲ့ကာ ပြေး၍လာကြသည်။ ၎င်းနောက် ပြက်ရယ်သမှုပြုကြသည်။ ကာဖိရ်များသည် တစ်ဘက်တွင် ကုရ်အာန်ကျမ်းလာ တရားတော်များကို ပြက်ရယ်ပြုကြသည်၊ အခြားတစ်ဘက်တွင် ဂျန္နတ်ကိုလည်း မျှော်မှန်းကြသည်။ ကြည့်-ကုရ်အာန်(၄၁:၅၀)

အလ္လာဟ်အရှင်မြတ်အား အသက်ထက်ဆုံး ပုန်ကန်နေသော ကာဖိရ်များက ထိုအရှင်၏ ဂျန္နတ် ဥယျာဉ်မြတ်ကို မျှော်မှန်းခြင်းမှာ လားလားမျှ မစပ်အပ်သောအရာကို မျှော်မှန်းခြင်းပင်၊ ကာဖိရ်နှင့် ဂျန္နတ် အဘယ်မှာလျှင် ဆက်စပ်ရအံ့နည်း။

၃၉။ အလျှင်းမဟုတ်၊ စေကန်အမှန် ငါအရှင်မြတ်သည် ၎င်းတို့အား ၎င်းတို့ သိရှိကြသောအရာဖြင့် (ပင်) ဖန်ဆင်းထားတော်မူသည်။

كَلَّآ ۖ إِنَّا خَلَقْنَٰهُم مِّمَّا يَعْلَمُونَ ﴿٣٩﴾

၄၀။ သို့ဖြစ်ပေရာ နေထွက်ရာအရပ်များကိုလည်းကောင်း၊ နေဝင်ရာ အရပ်များကိုလည်းကောင်း၊ ဖန်ဆင်းတော်မူသော ငါအရှင်မြတ်သည် ကျိန်ဆို၍ မိန့်ကြားတော်မူ၏။ စေကန်မလွဲ ငါအရှင်မြတ်သည် တတ်စွမ်းနိုင်တော်မူသော အရှင်မြတ်ပင်။ [၁]

فَلَآ أُقْسِمُ بِرَبِّ ٱلْمَشَٰرِقِ وَٱلْمَغَٰرِبِ إِنَّا لَقَٰدِرُونَ ﴿٤٠﴾

၄၁။ ၎င်းတို့၏အစား ၎င်းတို့ထက်သာလွန်မြင့်မြတ်သောသူအား လဲလှယ်တော်မူရန်။ စင်စစ်သော်ကား ငါအရှင်မြတ်သည် မစွမ်းဆောင်နိုင်တော်မူသောအရှင်မြတ် မဟုတ်ပေ။

عَلَىٰٓ أَن نُّبَدِّلَ خَيْرًا مِّنْهُمْ وَمَا نَحْنُ بِمَسْبُوقِينَ ﴿٤١﴾

၄၂။ သို့ဖြစ်ပေရာ (အို-နဗီတမန်တော်) အသင်သည် ထိုသူတို့အား မိမိတို့ချိန်းဆိုခြင်း ခံကြရလေသောနေ့နှင့် ရင်ဆိုင်တွေ့ဆုံကြသည်အထိ အချည်းနှီးသောစကားများ ပြောဆိုကြလျက်ရှိကြရန်လည်းကောင်း၊ ကစားခုန်စားလျက် ရှိကြရန်လည်းကောင်း၊ စွန့်ထားပါလေ။

فَذَرْهُمْ يَخُوضُوا۟ وَيَلْعَبُوا۟ حَتَّىٰ يُلَٰقُوا۟ يَوْمَهُمُ ٱلَّذِى يُوعَدُونَ ﴿٤٢﴾

---

(၁) ဆိုလိုသည်ကား နေထွက်ရာအရပ်နှင့် နေဝင်ရာအရပ်သည် နေ့စဉ်နှင့်အမျှ ပြောင်းလဲလျက်ရှိ၏။ ဤသည် အထင်အရှားပင်။ ဤသည် အလ္လာဟ်အရှင်မြတ်၏ စီစဉ်ဖန်တီးမှုပင်။ နေထွက်ရာ အရပ်နှင့် နေဝင်ရာအရပ်ကို နေ့စဉ်နှင့်အမျှ ပြောင်းလဲပေးတော်မူသော အရှင်မြတ်သည် ဤပစ္စက္ခမှာပင် လက်ရှိ ကာဖိရ်များ၏နေရာတွင် ၎င်းတို့ထက် အဘက်ဘက်မှ ကောင်းမွန်မြင့်မြတ်သောသူများကိုလည်း ဖန်ဆင်းတော်မူနိုင်ပေသည်။ မက္ကာမြို့သား ကုရိုက်ရှ်မျိုးနွယ်၏နေရာတွင် မဒီနာမြို့မှ "အန်ဆွာရ်" ထွန်းကားလာခဲ့ကြသည်မှာလည်း ဤအာယတ်တော်၏ လက်တွေ့အထောက်အထားတစ်ရပ်ပင်။

နေထွက်ရာအရပ်များ၊ နေဝင်ရာအရပ်များအကြောင်း ကုရ်အာန်(၃၇:၅)တွင် ပါရှိခဲ့ချေပြီ၊ သက်ဆိုင်ရာအဖွင့်များကိုလည်း ရေးသားခဲ့ပေပြီ။ ကုရ်အာန်(၅၅:၁၇)၏အဖွင့်တွင်လည်း ဤအကြောင်းကို ရေးသားခဲ့ပေပြီ။ ပြန်လည်ရှုပါကုန်။

يَوْمَ يَخْرُجُونَ مِنَ الْأَجْدَاثِ
سِرَاعًا كَأَنَّهُمْ إِلَىٰ نُصُبٍ
يُوفِضُونَ ﴿٤٣﴾
خَاشِعَةً أَبْصَارُهُمْ تَرْهَقُهُمْ ذِلَّةٌ ۚ
ذَٰلِكَ الْيَوْمُ الَّذِي كَانُوا
يُوعَدُونَ ﴿٤٤﴾

၄၃။ ၎င်းတို့သည် ပူဇော်ပသရာသို့ ပြေး၍နေကြ ဘိသကဲ့သို့ပင် သင်္ချိုင်းများမှထွက်၍ လျင်မြန်စွာ ပြေးကြအံ့သောနေ့နှင့်၊

၄၄။ ၎င်းတို့၏ မျက်စိများမှာ အောက်သို့စိုက်၍ နေကြပေမည်။ ဂုဏ်ရည်သိမ်ဖျင်းမှုသည် ၎င်းတို့အား ဖုံးလွှမ်းလျက် ရှိပေမည်။ ထိုသည် ၎င်းတို့ချိန်းဆိုခြင်း ခံခဲ့ရသောနေ့ပင် ဖြစ်ပေသတည်း။ [၁]

(၁) ဆိုလိုသည်ကား ပြန်လည်ရှင်ပြန်ထကြရမည့်အကြောင်း၊ ကိယာမတ်နေ့တွင် ကျိုးပြစ်ခံ၊ စံကြရမည့်အကြောင်း နှင့်စပ်လျဉ်း၍ အထောက်အထားများ အထင်အရှား ရှိနေပါလျက် ကာဖိရ်များ မလိုမုန်းတီး၍ သွေဖည်ငြင်းဆန် နေကြပါက၊ တမန်တော်မြတ်သည် ယင်းသို့သော ကာဖိရ်များအား မလွှဲမရှောင်သာ စွန့်ထားတော်မူရမည်သာ။ ၎င်းတို့သည် မကြာမီအတွင်း ချိန်းချက်ထားသော ကိယာမတ်နေ့နှင့် ရင်ဆိုင်တွေ့ကြရပေမည်။ ထိုအခါ မိမိတို့ ဇွတ်မှိတ်ငြင်းဆိုခဲ့ကြသော ကိယာမတ်နေ့၏အကြောင်း ကောင်းကောင်းကြီး သိရှိသွားကြပေမည်။ ဤသည့်သဘော ကုရ်အာန်ကျမ်းမြတ်တွင် အကြိမ်ကြိမ်ပါရှိသည်။ ကြည့်-ကုရ်အာန်(၃၆:၅၁-၆၇)။

# တမန်တော် နူဟ် ကဏ္ဍ

سُورَةُ نُوحٍ

ဤကဏ္ဍသည်တမန်တော်နူဟ်ကဏ္ဍမည်၏။ မက္ကာမြို့တော်၌ကျရောက်ခဲ့၏။
ဤကဏ္ဍတွင် အာယတ်တော် (၂၈)ပါး၊ ရုကူအ် (၂)ပိုဒ်အသီးသီးပါရှိ၏။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ

အလွန်တရာ ကြင်နာသနားတော်မူသော၊
ကရုဏာတော်ရှင် ဖြစ်တော်မူသော၊
အလ္လာဟ်အရှင်မြတ်၏ နာမံတော်ဖြင့် အစပြုပါ၏။

إِنَّآ أَرْسَلْنَا نُوحًا إِلَىٰ قَوْمِهِۦٓ أَنْ أَنذِرْ قَوْمَكَ مِن قَبْلِ أَن يَأْتِيَهُمْ عَذَابٌ أَلِيمٌ ①

၁။ ကေန်စင်စစ် ငါအရှင်မြတ်သည် (နဗီတမန်တော်)နူဟ်အား ၎င်း၏အမျိုးသားတို့ထံ စေလွှတ်တော်မူခဲ့၏။ အသင်သည် မိမိအမျိုးသားတို့အား၊ ၎င်းတို့ထံ နာကျင်ဖွယ်ဖြစ်သောပြစ်ဒဏ် ဆိုက်ရောက်၍မလာမီ သတိပေးပါလေ။

قَالَ يَٰقَوْمِ إِنِّى لَكُمْ نَذِيرٌ مُّبِينٌ ②

၂။ ထို(နဗီတမန်တော်)နူဟ်က ပြောကြားခဲ့သည်မှာ- မိမိအမျိုးသားတို့အား "အို-ငါ၏အမျိုးသားတို့၊ ကေန်မလွဲ ငါသည် အသင်တို့အဖို့ ထင်ရှားစွာ သတိပေး နှိုးဆော်သူဖြစ်သည်။

أَنِ ٱعْبُدُوا۟ ٱللَّهَ وَٱتَّقُوهُ وَأَطِيعُونِ ③

၃။ အသင်တို့သည် အလ္လာဟ်အရှင်မြတ်အားသာလျှင် ဆည်းကပ်ကိုးကွယ်ကြလေကုန်၊ အသင်တို့သည် ထိုအရှင်မြတ်အား ကြောက်ရွံ့ကြလေကုန်၊ အသင်တို့သည် ငါ၏အမိန့်ကို နာခံကြလေကုန်။

يَغْفِرْ لَكُم مِّن ذُنُوبِكُمْ وَيُؤَخِّرْكُمْ إِلَىٰٓ أَجَلٍ مُّسَمًّى ۚ إِنَّ أَجَلَ ٱللَّهِ

၄။ ထိုအရှင်မြတ်သည် အသင်တို့၏ပြစ်မှုဒုစရိုက်များကို ခွင့်လွှတ်ချမ်းသာပေးတော်မူမည့်ပြင် ထိုအရှင်မြတ်သည် အသင်တို့အား သတ်မှတ်ပြဋ္ဌာန်းပြီးဖြစ်သော အချိန်ကာလတိုင်အောင် ရွှေ့ဆိုင်းခွင့် ပေးတော်မူပေမည်။

مَلွဲကေန် အလ္လာဟ်အရှင်မြတ် ပြဋ္ဌာန်းတော်မူသောအချိန်ကာလသည် ဆိုက်ရောက်လာသောအခါ ရွှေ့ဆိုင်း၍ရမည် မဟုတ်ပေ။ အကယ်၍ အသင်တို့သည် (ဤသည်ကို) သိရှိကြပါလျှင် ကောင်းလေစွတကား။”

إِذَا جَآءَ لَا يُؤَخَّرُ لَوْ كُنتُمْ تَعْلَمُونَ ④

၅။ (ထို့နောက်) ထို(နဗီတမန်တော်“နူဟ်”)သည် (ဤသို့)လျှောက်ထားခဲ့၏။ အို-ကျွန်တော်မျိုးအား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်၊ ဧကန်အမှန် ကျွန်တော်မျိုးသည် မိမိအမျိုးသားတို့အား နေ့ညဉ့် (မပြတ်) ဖိတ်ခေါ်ခဲ့ပါ၏။

قَالَ رَبِّ إِنِّي دَعَوْتُ قَوْمِي لَيْلًا وَنَهَارًا ⑤

၆။ သို့တစေလည်း ကျွန်တော်မျိုး၏ဖိတ်ခေါ်ချက်သည် ၎င်းတို့၌ ထွက်ပြေးတိမ်းရှောင်မှုကိုသာလျှင် တိုးတက်စေခဲ့ပါ၏။

فَلَمْ يَزِدْهُمْ دُعَآءِيٓ إِلَّا فِرَارًا ⑥

၇။ ထိုမှတစ်ပါး အရှင်မြတ်သည် ၎င်းတို့အား ခွင့်လွှတ်တော်မူအံ့သောငှာ မည်သည့်အခါမျိုးမဆို ကျွန်တော်မျိုးသည် ၎င်းတို့အား ဖိတ်ခေါ်ခဲ့ပါလျှင် ၎င်းတို့သည် မိမိတို့၏လက်ချောင်းများကို မိမိတို့နားများ၌ ထည့်သွင်းထားခဲ့ကြပါ၏။ ထို့ပြင် ၎င်းတို့သည် မိမိတို့၏အဝတ်များကို (မိမိတို့ကိုယ်များပေါ်၌) လွှမ်းခြုံ ဖုံးအုပ်ထားခဲ့ကြပါ၏။ ထို့ပြင် ၎င်းတို့သည် (မိမိတို့၏ သွေဖည်ငြင်းပယ်မှုပေါ်၌) ဇွတ်မှိတ်၍သာ နေခဲ့ကြသည့်ပြင် လွန်စွာ မာန်မာနထောင်လွှားခြင်းကိုလည်း ပြုခဲ့ကြပါ၏။

وَإِنِّي كُلَّمَا دَعَوْتُهُمْ لِتَغْفِرَ لَهُمْ جَعَلُوٓا أَصَابِعَهُمْ فِيٓ ءَاذَانِهِمْ وَاسْتَغْشَوْا ثِيَابَهُمْ وَأَصَرُّوا وَاسْتَكْبَرُوا اسْتِكْبَارًا ⑦

၈။ ထို့နောက် ကျွန်တော်မျိုးသည် စင်စစ်ဧကန် ၎င်းတို့အား အသံကျယ်စွာ ဖိတ်ခေါ်ခဲ့ပါ၏။

ثُمَّ إِنِّي دَعَوْتُهُمْ جِهَارًا ⑧

ثُمَّ إِنِّيٓ أَعۡلَنتُ لَهُمۡ وَأَسۡرَرۡتُ لَهُمۡ إِسۡرَارٗا ⑨

၉။ ထို့နောက် အမှန်စင်စစ် ကျွန်တော်မျိုးသည် ၎င်းတို့အား ပွင့်လင်းထင်ရှားစွာ ကြေညာ၍လည်း ဖိတ်ခေါ်ခဲ့ပါ၏။ ထိုမှတစ်ပါး ကျွန်တော်မျိုးသည် ၎င်းတို့အား လျှို့ဝှက်စွာဖိတ်ခေါ်မှုလည်း ပြုခဲ့ပါ၏။

فَقُلۡتُ ٱسۡتَغۡفِرُواْ رَبَّكُمۡ إِنَّهُۥ كَانَ غَفَّارٗا ⑩

၁၀။ ထိုကဲ့သို့ ဖိတ်ခေါ်ရာတွင် (၎င်းတို့အား ဤသို့) ပြောကြားခဲ့ပါ၏။ (အချင်းတို့) အသင်တို့သည် မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၏ အထံတော်၌ လွတ်ငြိမ်းချမ်းသာခွင့်ကို ပန်ကြားအသနားခံကြလေကုန်။

မလွဲဧကန် ထိုအရှင်မြတ်သည် အလွန်တရာ ခွင့်လွှတ်ချမ်းသာ ပေးသနားတော်မူသောအရှင် ဖြစ်တော်မူ၏။

يُرۡسِلِ ٱلسَّمَآءَ عَلَيۡكُم مِّدۡرَارٗا ⑪

၁၁။ ထိုအရှင်မြတ်သည် အသင်တို့အပေါ်ဝယ် မြောက်မြားစွာ ရွာသွန်းသောမိုးကို စေလွှတ်တော်မူပေမည်။

وَيُمۡدِدۡكُم بِأَمۡوَٰلٖ وَبَنِينَ وَيَجۡعَل لَّكُمۡ جَنَّٰتٖ وَيَجۡعَل لَّكُمۡ أَنۡهَٰرٗا ⑫

၁၂။ ၎င်းပြင် ထိုအရှင်မြတ်သည် အသင်တို့အား ပစ္စည်းဥစ္စာများ (ချီးမြှင့်တော်မူခြင်းအား)ဖြင့်လည်းကောင်း၊ သား(သမီး)များ (ချီးမြှင့်တော်မူခြင်းအား) ဖြင့်လည်းကောင်း၊ စောင်မ ကူညီတော်မူပေမည်။ ထို့ပြင် အသင်တို့အဖို့ ဥယျာဉ်များကို ဖန်ဆင်း၍ ပေးသနားတော်မူသည့်ပြင် အသင်တို့အဖို့ ချောင်းများကိုလည်း စီးတွေစေတော်မူပေမည်။

مَّا لَكُمۡ لَا تَرۡجُونَ لِلَّهِ وَقَارٗا ⑬

၁၃။ အသင်တို့၌ မည်သည့် အကြောင်းရှိ၍ အလ္လာဟ်အရှင်မြတ်၏ ထူးကဲမြင့်မြတ်မှုကို မယုံကြည်ကြသနည်း။

وَقَدْ خَلَقَكُمْ أَطْوَارًا ﴿١٤﴾

၁၄။ စင်စစ်ကေန် ထိုအရှင်မြတ်သည် အသင်တို့အား (ရုပ်ဆင်းသဏ္ဍာန်) အမျိုးမျိုးနှင့်၊ နည်းအမျိုးမျိုး(ပြောင်း၍ အဆင့်ဆင့်)ဖန်ဆင်းတော်မူခဲ့၏။

أَلَمْ تَرَوْا كَيْفَ خَلَقَ اللَّهُ سَبْعَ سَمَاوَاتٍ طِبَاقًا ﴿١٥﴾

၁၅။ အလ္လာဟ်အရှင်မြတ်သည် မိုးခုနစ်ခုကို မည်သို့မည်ပုံ အထပ်ထပ် ဖန်ဆင်းတော်မူခဲ့သည်ကို အသင်တို့သည် လေ့လာဆင်ခြင် တွေ့မြင်ခဲ့ကြသည် မဟုတ်လော။

وَجَعَلَ الْقَمَرَ فِيهِنَّ نُورًا وَجَعَلَ الشَّمْسَ سِرَاجًا ﴿١٦﴾

၁၆။ ၎င်းပြင် ထိုအရှင်မြတ်သည် ယင်းမိုးများ၌ “လ”ကို လင်းရောင်ခြည် ဖြစ်စေတော်မူခဲ့၏။ ထို့ပြင် “နေ”ကို မီးရှူးမီးတိုင် ပြုလုပ်တော်မူခဲ့၏။

وَاللَّهُ أَنبَتَكُم مِّنَ الْأَرْضِ نَبَاتًا ﴿١٧﴾

၁၇။ ထို့ပြင် အလ္လာဟ်အရှင်မြတ်သည် အသင်တို့အား အထူးနည်းမျိုးနှင့် မြေဖြင့်ဖန်ဆင်းတော်မူခဲ့၏။

ثُمَّ يُعِيدُكُمْ فِيهَا وَيُخْرِجُكُمْ إِخْرَاجًا ﴿١٨﴾

၁၈။ ထို့နောက်တစ်ဖန် ထိုအရှင်မြတ်သည် အသင်တို့အား ယင်းပထဝီမြေထဲသို့ပင် ပြန်ရောက်စေတော်မူပေမည်။ ထို့နောက်တစ်ဖန် အသင်တို့အား (ယင်းမြေထဲမှ) အပြင်သို့ ထွက်စေတော်မူပေမည်။

وَاللَّهُ جَعَلَ لَكُمُ الْأَرْضَ بِسَاطًا ﴿١٩﴾

၁၉။ ထိုမှတစ်ပါး အလ္လာဟ်အရှင်မြတ်သည် အသင်တို့အကျိုးငှာ ပထဝီမြေကို အခင်းအကျင်း ပြုလုပ်တော်မူခဲ့၏။

لِّتَسْلُكُوا مِنْهَا سُبُلًا فِجَاجًا ﴿٢٠﴾

၂၀။ သို့မှသာလျှင် အသင်တို့သည် ယင်းပထဝီမြေ၏ လမ်းကျယ်များဝယ် သွားလာနိုင်ကြကုန်အံ့သတည်း။ [၁]

---

(၁) တမန်တော်နူဟ်(အလိုင်ဟစ္စလာမ်)သည် မိမိ၏အမျိုးသားများအား နှစ်ပေါင်း(၉၅၀)တိုင်တိုင် နေ့ညဥ့်မပြတ် တရားဟောကြား၍ နေတော်မူခဲ့၏။ နောက်ဆုံးတွင် တမန်တော် နူဟ်သည် မိမိ၏အမျိုးသားများဘက်မှ မျှော်လင့်ချက် ကုန်ဆုံးသွားသည့်အခါ အလ္လာဟ်အရှင်မြတ်ထံတော်၌ ဤအာယတ်တော်တွင် လာရှိသည့်အတိုင်း လျှောက်ထားတော်မူခဲ့လေသည်။

قَالَ نُوحٌ رَّبِّ إِنَّهُمْ عَصَوْنِي وَاتَّبَعُوا مَن لَّمْ يَزِدْهُ مَالُهُ وَوَلَدُهُ إِلَّا خَسَارًا ﴿٢١﴾

၂၁။ (နဗီတမန်တော်) "နူဟ်"သည် လျှောက်ထားခဲ့လေ၏။ အို-ကျွန်တော်မျိုးအား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်၊ ဧကန်အမှန် ထို ကျွန်တော်မျိုး၏အမျိုးသားတို့သည် ကျွန်တော်မျိုးအား ဖီဆန်၍ အကြင်သူတို့၏နောက်သို့ လိုက်သွားခဲ့ကြပါသည်။ ထိုသူတို့၌ ထိုသူတို့၏ ပစ္စည်းဥစ္စာသည်လည်းကောင်း၊ ထိုသူတို့၏ သားသမီးများသည်လည်းကောင်း၊ ဆုံးရှုံးမှုကိုသာလျှင် တိုးပွားစေခဲ့ကြပါသည်။

وَمَكَرُوا مَكْرًا كُبَّارًا ﴿٢٢﴾

၂၂။ ထို့ပြင် ကျွန်တော်မျိုး၏ အမျိုးသားတို့သည် လွန်စွာ ကြီးကျယ်လှစွာသော အကြံအစည်များကို ကြံစည်ခဲ့ကြပါ၏။

وَقَالُوا لَا تَذَرُنَّ آلِهَتَكُمْ وَلَا تَذَرُنَّ وَدًّا وَلَا سُوَاعًا وَلَا يَغُوثَ وَيَعُوقَ وَنَسْرًا ﴿٢٣﴾

၂၃။ ၎င်းပြင် ထို ကျွန်တော်မျိုး၏အမျိုးသားတို့သည် (လက်အောက်ငယ်သား လူဗာလတို့အား ဤသို့) ပြောဆိုခဲ့ကြပါသည်။ (အချင်းတို့၊) အသင်တို့ သည် မိမိတို့၏ ကိုးကွယ်ရာများကို စွန့်ပယ်၍ အလျှင်း မထားကြကုန်လင့်။ ၎င်းပြင် အသင်တို့သည် "ဝဒ္ဒ" ဆင်းတုကိုလည်း အလျှင်း မစွန့်ပယ်ကြကုန်လင့်၊ "ဆုဝါအ်" ဆင်းတုကိုလည်း စွန့်ပယ်ခြင်း မပြုကြကုန်လင့်၊ ထို့မှတစ်ပါး "ယဂူဆ်" ဆင်းတုကိုလည်းကောင်း၊ "ယအူက်" ဆင်းတုကိုလည်းကောင်း၊ "နတ်စ်ရ်" ဆင်းတုကိုလည်းကောင်း၊ စွန့်ပယ်ခြင်းကိုမပြုကြကုန်လင့်။ [၁]

---

(၁) ဤအာယတ်တော်တွင်ပါရှိသည့် "ဝဒ္ဒ" "စုဝါအ်" "ယဂူဆ်" "ယအူက်" "နတ်စ်ရ်" အစရှိသည့် အမည်များမှာ တမန်တော်နူဟ် (အလိုင်ဟစ္စလာမ်)၏ အမျိုးသားများ ဆည်းကပ်ကိုးကွယ်လေ့ရှိကြသော ဆင်းတုများ၏ အမည်များဖြစ်ပေသည်။ အရဗ်အမျိုးသားများသည်လည်း နောက်ပိုင်းတွင် ယင်း ဆင်းတုများကို ကိုးကွယ်လာခဲ့ကြပေသည်။ ကြည့်-ဣဗ်နုကဆီရ်။

وَقَدْ أَضَلُّوا كَثِيرًا ۖ وَلَا تَزِدِ الظَّالِمِينَ إِلَّا ضَلَالًا ﴿٢٤﴾

၂၄။ အမှန်စင်စစ်သော်ကား ၎င်းတို့သည် မြောက်မြားစွာသောသူတို့အား လမ်းလွဲစေခဲ့ကြပါသည်။ (သို့ဖြစ်ပါ၍) အရှင်မြတ်သည် မတရားသောသူတို့၌ လမ်းလွဲမှုကိုသာလျှင် တိုးပွားစေတော်မူပါ။

مِّمَّا خَطِيئَاتِهِمْ أُغْرِقُوا فَأُدْخِلُوا نَارًا فَلَمْ يَجِدُوا لَهُم مِّن دُونِ اللَّهِ أَنصَارًا ﴿٢٥﴾

၂၅။ ၎င်းတို့သည် မိမိတို့၏ပြစ်မှုတို့ကြောင့်ပင် နစ်မြုပ်စေခြင်းကို ခံခဲ့ကြရလေ၏။ တစ်ဖန် ၎င်းတို့သည် ငရဲမီးထဲသို့ ဝင်ရောက်စေခြင်းကို ခံခဲ့ကြရကုန်၏။ သို့ဖြစ်ပေရာ ၎င်းတို့သည် အလ္လာဟ်အရှင်မြတ်နှင့် ယှဉ်ပြိုင်၍ ကူညီစောင်မအံ့သောသူများဟူ၍ တစ်ဦးတစ်ယောက်မျှပင် တွေ့ရှိခဲ့ကြသည်မဟုတ်ပေ။

وَقَالَ نُوحٌ رَّبِّ لَا تَذَرْ عَلَى الْأَرْضِ مِنَ الْكَافِرِينَ دَيَّارًا ﴿٢٦﴾

၂၆။ ၎င်းပြင် (နဗီတမန်တော်)နူဟ်က (ဤသို့) လျှောက်ထား ပန်ကြားခဲ့ပြန်၏။ အို-ကျွန်တော်မျိုးအား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်၊ အရှင်မြတ်သည် ပထဝီမြေဝယ် ကာဖိရ် သွေဖည်ငြင်းပယ်သောသူတို့အနက် မည်သည့်နေထိုင်သူ တစ်ဦးတစ်ယောက်ကိုမျှ ချန်ထားတော်မမူပါနှင့်။

إِنَّكَ إِن تَذَرْهُمْ يُضِلُّوا عِبَادَكَ وَلَا يَلِدُوا إِلَّا فَاجِرًا كَفَّارًا ﴿٢٧﴾

၂၇။ မလွဲကေန် အကယ်၍ အရှင်မြတ်သည် ၎င်းတို့အား ချန်ထားတော်မူပါလျှင် ၎င်းတို့သည် အရှင်မြတ်၏ ကျွန်များအား လမ်းလွဲစေကြမည်သာမက ၎င်းတို့သည် လွန်စွာကျေးဇူးကန်း သွေဖည်ငြင်းပယ်အံ့သော၊ အကျင့်စာရိတ္တ ဖောက်ပြန်အံ့သော၊ သူတို့ကိုသာလျှင် မွေးဖွားကြမည်ဖြစ်ပါသည်။ [၁]

---

(၁) တမန်တော်နူဟ်(အလိုင်ဟစ္စလာမ်)သည် မိမိ၏အမျိုးသားများအား ကျိုးကြောင်းပြ၍ နှစ်ပရိစ္ဆေဒ မြောက်များစွာ တရားဟောကြားခဲ့သည်ဖြစ်ရာ၊ မိမိ၏အမျိုးသားများ၏ စိတ်နေသဘောထားကို ကောင်းစွာသိရှိနားလည်ထားခဲ့၏။ မိမိအမျိုးသားများ၏ အတွင်းစာတ်ခံသည် အပျက်စီးကြီး ပျက်စီးနေကြပြီဖြစ်ရာ၊ တရားဟောကြားသည်နှင့်အမျှ မိမိ၏ အမျိုးသားများသည် ပို၍ပို၍ လွဲမှားလာကြသည်၊ ပို၍ပို၍ ဆိုးရွားလာကြသည်။ ပို၍ပို၍ သွေဖည်ဆန့်ကျင်လာကြသည်ကိုလည်း တွေ့မြင်နေခဲ့၏။ ထို့ပြင်တဝ အလ္လာဟ်အရှင်မြတ်ထံတော်မှ ကျရောက်လာသော ➤➤

رَّبِّ اغْفِرْ لِي وَلِوَالِدَيَّ وَلِمَن دَخَلَ بَيْتِيَ مُؤْمِنًا وَلِلْمُؤْمِنِينَ وَالْمُؤْمِنَاتِ وَلَا تَزِدِ الظَّالِمِينَ إِلَّا تَبَارًا ﴿٢٨﴾

၂၈။ အို-ကျွန်တော်မျိုးအား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်၊ အရှင်မြတ်သည် ကျွန်တော်မျိုးအားလည်းကောင်း၊ ကျွန်တော်မျိုး၏မိဘနှစ်ပါးတို့အားလည်းကောင်း၊ ကျွန်တော်မျိုး၏အိမ်၌ မုအ်မင်န်သက်ဝင်ယုံကြည်သူအဖြစ်နှင့် ဝင်ရောက်သောသူတို့အားလည်းကောင်း၊ "မုအ်မင်န်" ယောကျ်ားအပေါင်းတို့အားလည်းကောင်း၊ "မုအ်မင်န်" မိန်းမအပေါင်းတို့အားလည်းကောင်း၊ (အပြစ်တို့မှ) ခွင့်လွှတ်ချမ်းသာပေးသနားတော်မူပါ။ [၁] ၎င်းပြင် အရှင်မြတ်သည် မတရားသောသူတို့၌မူကား ပျက်စီးမှုကိုသာလျှင် တိုးပွားစေတော်မူပါ။

---

➤➤ (ဝဟီ)အမိန့်တော်အရလည်း မိမိ၏အမျိုးသားများ (အီမာန်) သက်ဝင်ယုံကြည်ကြတော့မည် မဟုတ်ကြောင်းကိုလည်း သိနှင့်ထားခဲ့၏။ ကြည့်-ကုရ်အာန်(၁၁း၃၆)

ယင်းသို့သော အမျိုးသားများအား ကမ္ဘာတွင် ဆက်လက်ထားရှိပါက ၎င်းတို့၏ရောဂါသည် သူတစ်ပါးတို့သို့ပင် ကူးစက်လာမည်ဖြစ်သည်ကိုလည်း တမန်တော်နူဟ်သည် ရိပ်စားမိခဲ့၏။ သို့အတွက်ကြောင့်ပင် တမန်တော်နူဟ်(အလိုင်ဟစ္စလာမ်)သည် မိမိ၏အမျိုးသားများနှင့်ပတ်သက်၍ ဤအာယတ်တော်များတွင် လာရှိသည့်အတိုင်း ဆုပန်ကြားခဲ့ခြင်းဖြစ်လေသည်။ တမန်တော်မူစာ(အလိုင်ဟစ္စလာမ်) သည်လည်း ဖစ်ရ်အောင်န်နှင့်ပတ်သက်၍ ဤနည်းနှင်နှင်ပင် ဆုပန်ကြားခဲ့လေ၏။ ကြည့်-ကုရ်အာန်(၁၀း၈၈း၈၉)။ အွတ်ဆ်မာနီ။ မာဂျိဒီ။

(၁) တမန်တော်နူဟ်(အလိုင်ဟစ္စလာမ်)သည် မိမိ၏အမျိုးသားများအနက်၊ ကာဖိရ်များနှင့်ပတ်သက်၍ အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့အား ဤကမ္ဘာမှ လုံးဝသုတ်သင်သန့်ရှင်းပစ်တော်မူပါမည့် အကြောင်း ဆုပန်ကြားပြီးနောက် မိမိအားလည်းကောင်း၊ မိမိ၏ မိဘနှစ်ပါးအားလည်းကောင်း၊ မိမိအိမ်တွင် မုအ်မင်န်အဖြစ်နှင့် ဝင်ထွက်သွားလာနေကြသော အိမ်သူအိမ်သား မိတ်ဆွေများအားလည်းကောင်း၊ ကမ္ဘာအဝှန်းရှိ မုအ်မင်န်အမျိုးသား၊ အမျိုးသမီးတို့အားလည်းကောင်း၊ ချမ်းသာခွင့် ပေးသနားတော်မူပါမည့်အကြောင်း ဆုပန်ကြားခဲ့လေသည်။

# ဂျင်န် ကဏ္ဍ

سُوْرَةُ الْجِنِّ

ဤကဏ္ဍသည်"ဂျင်န်"ကဏ္ဍမည်၏။ မက္ကာမြို့တော်၌ကျရောက်ခဲ့၏။
ဤကဏ္ဍတွင် အာယတ်တော်(၂၈)ပါး၊ ရကူအ်(၂)ပိုဒ်အသီးသီးပါရှိ၏။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ ○

အလွန်တရာ ကြင်နာသနားတော်မူသော၊
ကရုဏာတော်ရှင်ဖြစ်တော်မူသော၊
အလ္လာဟ်အရှင်မြတ်၏နာမံတော်ဖြင့် အစပြုပါ၏။

قُلْ اُوْحِيَ اِلَيَّ اَنَّهُ اسْتَمَعَ نَفَرٌ مِّنَ الْجِنِّ فَقَالُوْٓا اِنَّا سَمِعْنَا قُرْاٰنًا عَجَبًا ①

၁။ (အို-နဗီတမန်တော်) အသင်သည် ပြောကြားပါလေ။ ငါ့ထံဝယ် ဤသို့ "ဝဟ်ယ်" အမိန့်တော်ထုတ်ပြန်ခြင်း ခံခဲ့ရလေသည်။ ကေန်စင်စစ် ဂျင်န်တစ်စုသည် (ကုရ်အာန်ကျမ်းတော်မြတ်)ကို ကြားနာခဲ့ကြလေ၏။ ထို့နောက် ၎င်းတို့သည် (မိမိတို့ ဂျင်န်အမျိုးသားတို့ထံ ပြန်သွားခဲ့ရာ ဤသို့) ပြောကြားခဲ့ကြလေ၏။ (အချင်းတို့၊) ကေန်မလွဲ ကျွန်ုပ်တို့သည် အံ့သြဖွယ်ဖြစ်သော ကုရ်အာန်ကျမ်းမြတ်ကို ကြားနာခဲ့ကြရ၏။ [၁]

يَّهْدِيْٓ اِلَى الرُّشْدِ فَاٰمَنَّا بِهٖ ۖ وَلَنْ نُّشْرِكَ بِرَبِّنَآ اَحَدًا ②

၂။ ယင်းကုရ်အာန်ကျမ်းတော်မြတ်သည် ဖြောင့်မှန်သော တရားလမ်းကို ညွှန်ပြသည်ဖြစ်ရာ ကျွန်ုပ်တို့သည် ထိုကုရ်အာန်ကျမ်းတော်မြတ်ကို သက်ဝင်ယုံကြည်ခဲ့ကြလေပြီ။ ၎င်းပြင် ကျွန်ုပ်တို့သည် မည်သူတစ်ဦးတစ်ယောက်ကိုမျှပင် မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်နှင့် တွဲဖက်နိုင်းယှဉ်ကြမည် မဟုတ်ပြီ။

---

(၁) တစ်ရက်၊ တမန်တော်မြတ်သည် မိမိ၏ တပည့်သားအချို့တို့နှင့်အတူ နံနက်ချိန်တွင် "ဆွလာတုလ်ဖဂ္ဂျ်ရ်" ဝတ်ပြုနေတော်မူခဲ့၏။ ထိုအချိန်တွင် "ဂျင်န်" တစ်စုသည် တမန်တော်မြတ်ရှိရာသို့ ရောက်ရှိလာခဲ့ကြ၏။ ကုရ်အာန်ကျမ်းလာ အာယတ်တော်များကို ကြားနာခွင့် ရရှိသွားခဲ့၏။ ထိုအခါ အဆိုပါ ဂျင်န်များသည် အီမာန် သက်ဝင်ယုံကြည်၍ လာခဲ့ကြလေသည်။ ▷▷

وَّاَنَّهٗ تَعٰلٰى جَدُّ رَبِّنَا مَا اتَّخَذَ صَاحِبَةً وَّلَا وَلَدًا ۝٣

၃။ ထို့ပြင် ကေန်မုချ ကျွန်ုပ်တို့အား ဖန်ဆင်း မွေးမြူတော်မူသော အရှင်မြတ်၏ ဂုဏ်ကျက်သရေ သည် မြင့်မြတ်လှ၏။ ထိုအရှင်မြတ်သည် မည်သူ တစ်ယောက်ကိုမျှ ကြင်ရာကြင်ဖက်အဖြစ် ရွေးကောက် တင်မြှောက်တော်မူခဲ့သည်လည်း မရှိပေ။ သားသမီး အဖြစ် ပြုလုပ်တော်မူခဲ့သည်လည်း မရှိချေ။

وَّاَنَّهٗ كَانَ يَقُوْلُ سَفِيْهُنَا عَلَى اللّٰهِ شَطَطًا ۝٤

၄။ ၎င်းပြင် ဧကန်အမှန် ကျွန်ုပ်တို့အနက် အသိ ဉာဏ်ခေါင်းပါးသူတို့သည် အလ္လာဟ်အရှင်မြတ်နှင့် ပတ်သက်၍ လုံးဝမတရားသော စကားများကို ပြောဆိုလေ့ရှိခဲ့ကြ၏။ ၁

وَّاَنَّا ظَنَنَّآ اَنْ لَّنْ تَقُوْلَ الْاِنْسُ وَالْجِنُّ عَلَى اللّٰهِ كَذِبًا ۝٥

၅။ ၎င်းပြင် ဧကန်စင်စစ် ကျွန်ုပ်တို့မှာမူကား လူသားတို့သည်လည်းကောင်း၊ ဂျင်န်တို့သည်လည်း ကောင်း၊ အလ္လာဟ်အရှင်မြတ်နှင့်ပတ်သက်၍ အလျှင်း မုသားစကားကို ပြောဆိုကြမည်မဟုတ်ဟု ထင်မှတ် နေခဲ့ကြကုန်၏။

وَّاَنَّهٗ كَانَ رِجَالٌ مِّنَ الْاِنْسِ يَعُوْذُوْنَ بِرِجَالٍ مِّنَ الْجِنِّ فَزَادُوْهُمْ رَهَقًا ۝٦

၆။ ထို့ပြင် အမှန်စင်စစ် လူသားအချို့တို့သည် ဂျင်န်အချို့တို့၏ထံတွင် ခိုလှုံလေ့ရှိခဲ့ကြပေရာ ထို လူသားတို့သည် ၎င်းဂျင်န်များ၏ပုန်ကန်မှုကို ပိုကဲ စေခဲ့ကြကုန်၏။ ၂

---

➤➤ ဤအကြောင်း ကုရ်အာန်ကျမ်းမြတ်(၄၆း၂၉-၃၂)တွင် ပါရှိခဲ့ပြီ၊ သက်ဆိုင်ရာအဖွင့်များကိုလည်း အကျယ်ရေးသားခဲ့ပေပြီ။ ဂျင်န်သတ္တဝါများအကြောင်း ကုရ်အာန်တွင် အကြိမ်ကြိမ် ပါရှိသည်။

① လူသားတို့တွင် အယူအဆ လွဲမှားမှုများ ရှိသကဲ့သို့၊ ဂျင်န်များတွင်လည်း ရှိခဲ့၏။ လူသားတို့တွင် အလ္လာဟ်အရှင်မြတ်နှင့်ပတ်သက်၍ မဟုတ်မမှန် လုပ်ကြံယိုးစွပ်ပြောဆိုသူများရှိသကဲ့သို့ ဂျင်န်များတွင်လည်း ရှိခဲ့ကြ၏။ လူ့ဗာလများရှိသကဲ့သို့ ဂျင်န်ဗာလများလည်း ရှိခဲ့ကြ၏။ ဂျင်န်များတွင် အကြီးဆုံး ဂျင်န်ဗာလမှာ ဣဗ်လီစ်ပင်ဖြစ်ခဲ့၏။ ဤအာယတ်တော်တွင် "စဖီဟုနာ" ကျွန်ုပ်တို့၏ ဗာလဟူသည် ဣဗ်လီစ်ကိုပင် ရည်ညွှန်းဟန် တူသည်။

② အရဗ်အမိုက်ခေတ်တွင် လူများသည် မျက်ကွယ်သတင်းများကို ဂျင်န်များထံမှ မေးမြန်းလေ့ရှိခဲ့ကြ၏။ ဂျင်န်များထံ ပူဇော်ပသလေ့ရှိခဲ့ကြ၏။ ကြောက်မက်ဖွယ်ကောင်းသော တောင်ကြားဒေသများသို့ ဖြတ်သန်း➤➤

وَّاَنَّهُمْ ظَنُّوْا كَمَا ظَنَنْتُمْ اَنْ لَّنْ يَّبْعَثَ اللّٰهُ اَحَدًا ۟ۙ

၇။ ထိုမှတစ်ပါး ဧကန်မလွဲ ထိုဂျင်န်များမှာ အသင်တို့ ထင်မြင်ယူဆကြသကဲ့သို့ပင် အလ္လာဟ် အရှင်မြတ်သည် မည်သူ တစ်ဦးတစ်ယောက်ကိုမျှ ရှင်ပြန်ထစေတော်မူမည်မဟုတ်၊ (စေလွှတ်တော်မူမည် မဟုတ်)ဟူ၍ပင် ထင်မြင်ယူဆခဲ့ကြကုန်သတည်း၊ [၁]

وَّاَنَّا لَمَسْنَا السَّمَآءَ فَوَجَدْنٰهَا مُلِئَتْ حَرَسًا شَدِيْدًا وَّشُهُبًا ۟ۙ

၈။ ထို့ပြင် ဧကန်စင်စစ် ကျွန်ုပ်တို့သည် မိုးကောင်းကင်ကို စူးစမ်းခဲ့ကြရာ ယင်းမိုးကောင်းကင်ကို ကျွန်ုပ်တို့သည် သန်စွမ်းသော အစောင့်အကြပ်တို့ဖြင့်လည်းကောင်း၊ မီးကျီမီးခဲတို့ဖြင့် ပြည့်နှက်စွာ တွေ့ရှိခဲ့ကြရကုန်၏။

وَّاَنَّا كُنَّا نَقْعُدُ مِنْهَا مَقَاعِدَ لِلسَّمْعِ ؕ فَمَنْ يَّسْتَمِعِ الْاٰنَ يَجِدْ لَهٗ شِهَابًا رَّصَدًا ۟ۙ

၉။ ၎င်းပြင် ဧကန်အမှန် ကျွန်ုပ်တို့သည် ယင်းမိုးကောင်းကင်မှ (သတင်းများ)နားထောင်ရန် ထိုင်ရာနေရာများတွင် (သွား)ထိုင်လေ့ရှိခဲ့ကြကုန်၏။ ယခုသော် မည်သူမဆို (သွားရောက်)နားထောင်သည်ရှိသော် မီးကျီမီးခဲတစ်ခုကို မိမိအား အသင့် စောင့်လျက် (ကြိုနေသည်ကို) တွေ့ရှိရပေမည်။ [၂]

---

➤➤ သွားကြသည့်အခါ "ကျွန်ုပ်တို့သည် ဤတောင်ကြားဒေသရှိ ဂျင်န်များ၏အကြီးအကဲထံ ခိုလှုံကြပါသည်"ဟု ဆိုလေ့ရှိခဲ့ကြ၏။ ယင်းသို့ လူများက ဂျင်န်များကို ဆရာတင်လာကြသည့်အခါ ပူဇော်ပသလာကြသည့်အခါ၊ ခိုလှုံလာခဲ့ကြသည့်အခါ ဂျင်န်များသည် မိမိတို့ကိုယ်ကို မိမိတို့ ပို၍ပင် အထင်ကြီးလာခဲ့ကြ၏။ အတင့်ရဲလာခဲ့ကြ၏။ ပို၍မောက်မာ ပလွှားလာခဲ့ကြ၏။ ကုရ်အာန်ကျမ်းမြတ် ကျရောက်လာသည့်အခါကျမှ အဆိုပါ အယူအဆ လွဲမှားမှုများသည် ကင်းစင်သွားခဲ့လေသည်။

(၁) မှတ်စ်လင်မ် ဂျင်န်များက မိမိတို့၏ အမျိုးသားများအား ပြောပြခဲ့ကြသည်မှာ အလ္လာဟ်အရှင်မြတ်သည် မည်သူကိုမျှ သေပြီးနောက် အလျှင်းရှင်ပြန်ထ စေတော်မူမည်မဟုတ်ဟု အသင်တို့ ထင်မှတ်၍နေကြသကဲ့သို့ များစွာသော လူသားတို့သည်လည်း ယင်းသို့ပင် ထင်မှတ်နေကြသည်။ (တစ်နည်း) အလ္လာဟ်အရှင်မြတ်သည် နောက်နောင် မည်သူ့ကိုမျှ တမန်တော်အဖြစ် အလျှင်းစေလွှတ်တော်မူမည် မဟုတ်ဟု အသင်တို့ ထင်မှတ်နေကြသကဲ့သို့ များစွာသော လူသားတို့သည်လည်း ယင်းသို့ပင် ထင်မှတ်နေကြသည်။ ယခုသော် ကုရ်အာန်ကျမ်းလာ အာယတ်တော်များကို ကြားနာရခြင်းအားဖြင့် အလ္လာဟ်အရှင်မြတ်သည် အမြင့်မြတ်ဆုံး တမန်တော်မြတ်အား ပွင့်ပေါ်တော်မူပြီးဖြစ်ကြောင်း၊ သေပြီးနောက် ပြန်လည်ရှင်ပြန်ထကြရမည်ဖြစ်ကြောင်း၊ ကျိုးပြစ် ခံစံကြရမည်ဖြစ်ကြောင်း၊ ငါတို့ ကောင်းကောင်း သိကြရပြီ။ ကြည့်- ဣဗ်နုကဆီရ်။

وَّاَنَّا لَا نَدۡرِیۡۤ اَشَرٌّ اُرِیۡدَ بِمَنۡ فِی الۡاَرۡضِ اَمۡ اَرَادَ بِہِمۡ رَبُّہُمۡ رَشَدًا ﴿۱۰﴾

၁၀။ သို့ရာတွင် ကမ္ဘာသူကမ္ဘာသားတို့နှင့် ပတ်သက်၍ အဆိုးကို ရည်စူးထားပြီး ဖြစ်လေသလော၊ သို့တည်းမဟုတ် ၎င်းတို့နှင့်ပတ်သက်၍ ၎င်းတို့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်သည် တရားလမ်းမှန်ရရှိရေးကို ရည်စူးတော်မူပါသလော။ (ဤသည်ကို) ကျွန်ုပ်တို့သိရှိကြသည်မဟုတ်ပေတကား၊ [၁]

وَّاَنَّا مِنَّا الصّٰلِحُوۡنَ وَمِنَّا دُوۡنَ ذٰلِکَ ؕ کُنَّا طَرَآئِقَ قِدَدًا ﴿۱۱﴾

၁၁။ ၎င်းပြင် ဧကန်အမှန် ကျွန်ုပ်တို့တွင် အချို့မှာ သူတော်ကောင်းများဖြစ်ကြ၏။ ကျွန်ုပ်တို့တွင် အချို့မှာ ထိုမှတစ်ပါးသောသူများ ဖြစ်ကြကုန်၏။ (စင်စစ်သော်ကား)ကျွန်ုပ်တို့သည် ဂိုဏ်းဂဏအမျိုးမျိုး ဖြစ်ခဲ့ကြကုန်၏။

وَّاَنَّا ظَنَنَّاۤ اَنۡ لَّنۡ نُّعۡجِزَ اللّٰہَ فِی الۡاَرۡضِ وَلَنۡ نُّعۡجِزَہٗ ہَرَبًا ﴿۱۲﴾

၁၂။ သို့ရာတွင် စင်စစ်ဧကန် ကျွန်ုပ်တို့သည် အလ္လာဟ်အရှင်မြတ်အား ပထဝီမြေပေါ်၌လည်း မစွမ်းဆောင်နိုင်အောင် အလျှင်းပြုလုပ်နိုင်ကြမည် မဟုတ်ကြောင်းကိုလည်းကောင်း၊ (ပထဝီမြေမှ) ထွက်ပြေးတိမ်းရှောင်ခြင်းအားဖြင့်လည်း ထိုအရှင်မြတ်အား မစွမ်းဆောင်နိုင်အောင် အလျှင်း ပြုလုပ်နိုင်ကြမည် မဟုတ်ကြောင်းကိုလည်းကောင်း၊ သိရှိပြီးဖြစ်ခဲ့ကြလေပြီ။

---

(၂) ဂျင်န်များနှင့် ရှိုင်တွာန်များသည် တစ်ချိန်က ကောင်းကင်ကိုတက်၍ အထက်ကမ္ဘာ၏ သတင်းများကို ခိုးဝှက်နားထောင်လေ့ရှိခဲ့ကြသည်။ ယခုသော် ခိုးဝှက်နားထောင်သူများကို သက်ဆိုင်ရာ အစောင့်အကြပ်များက မီးတောက်မီးလျှံများဖြင့် ပစ်ပေါက်သဖြင့် ရှိုင်တွာန်များနှင့် ဂျင်န်များသည် ကောင်းကင်သို့ မတက်နိုင်ကြတော့ပေ။ သတင်းလည်း မရယူနိုင်ကြတော့ပေ။

ဤအကြောင်း ကုရ်အာန်(၁၅း၁၇-၁၈)တွင်လည်းကောင်း၊ (၃၇း၆-၁၀)တွင်လည်းကောင်းပါရှိခဲ့ချေပြီ။ သက်ဆိုင်ရာအဖွင့်များကိုလည်းအကျယ်ရေးသားခဲ့ပေပြီ။

(၁) အထက်တွင်ပါရှိသည့်အတိုင်း ဂျင်န်များသည် ယခင်က ကောင်းကင်သို့တက်၍ အထက်ကမ္ဘာ၏ သတင်းများကို ခိုးဝှက် နားထောင်နိုင်ခဲ့ကြသော်လည်း၊ ယခုသော် ကောင်းကင်တွင် အစောင့်အကြပ်များ စနစ်တကျစောင့်ကြပ်လျက်ရှိကြပြီ၊ ထိုအခါ ဂျင်န်များက ဤအာယတ်တော်တွင်လာရှိသည့်အတိုင်း ➤➤

وَّاَنَّا لَمَّا سَمِعْنَا الْهُدٰٓى اٰمَنَّا بِهٖ ۭ فَمَنْ يُّؤْمِنْۢ بِرَبِّهٖ فَلَا يَخَافُ بَخْسًا وَّلَا رَهَقًا ۝13

၁၃။ ထို့ပြင် ဧကန်ဆတ်ဆတ် ကျွန်ုပ်တို့သည် တရားလမ်းညွှန်(တည်းဟူသော ကုရ်အာန်ကျမ်းတော်မြတ်)ကို ကြားနာကြရသောအခါ ကျွန်ုပ်တို့သည် ယင်းတရားလမ်းညွှန်(တည်းဟူသော ကုရ်အာန်ကျမ်းတော်မြတ်)ကို သက်ဝင်ယုံကြည်လာခဲ့ကြသည်။ စင်စစ်သော်ကား မည်သူမဆို မိမိအား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်အား သက်ဝင်ယုံကြည်ပါလျှင် ထိုသူသည် မည်သည့် လျော့နည်းစေမှုကိုမျှလည်း စိုးရိမ်ရမည် မဟုတ်ပေ၊ မည်သည့် အဓမ္မမှုကိုမျှလည်း စိုးရိမ်ရမည် မဟုတ်ပေ။

وَّاَنَّا مِنَّا الْمُسْلِمُوْنَ وَمِنَّا الْقٰسِطُوْنَ ۭ فَمَنْ اَسْلَمَ فَاُولٰۗىِٕكَ تَحَرَّوْا رَشَدًا ۝14

၁၄။ ထိုမှတစ်ပါး ဧကန်မလွဲ ကျွန်ုပ်တို့တွင် အချို့မှာ မုစ်လင်မ်(အမိန့်တော်ကို လိုက်နာသူ)များ ဖြစ်ကြကုန်၏။ ထိုနည်းတူစွာ ကျွန်ုပ်တို့တွင် အချို့မှာ မတရားသောသူများ ဖြစ်ကြကုန်၏။ စင်စစ် "အစ္စလာမ်" သာသနာတော်ကို လက်ခံသောသူတို့ သည် လမ်းမှန်ကို ရှာဖွေ ရရှိခဲ့ကြသောသူများပင် ဖြစ်ကြကုန်၏။

وَاَمَّا الْقٰسِطُوْنَ فَكَانُوْا لِجَهَنَّمَ حَطَبًا ۝15

၁၅။ သို့ရာတွင် မတရားသော သူတို့မှာကား 'ဂျဟန္နမ်'ငရဲ၏ လောင်စာများပင်ဖြစ်ကြကုန်၏။ ①

---

➤➤ "ကောင်းကင်တွင် ယခုအစောင့်အကြပ်များသည် အဘယ်ကြောင့် ကျပ်တည်းစွာ စောင့်ကြပ်နေကြပါသနည်း၊ တမန်တော်မြတ် ပွင့်တော်မူချေပြီ၊ ကုရ်အာန်ကျမ်းမြတ်လည်း ကျရောက်လာချေပြီ။ အဆိုပါ အစောင့်အကြပ်သည် ဤသည်တို့ ကြောင့်ပင် ဖြစ်သည်။ အကျိုးဆက်ကား အသို့ရှိအံ့နည်း။ ကမ္ဘာသူကမ္ဘာသားတို့သည် အမြင်မှန်ရကာ ကုရ်အာန်ကျမ်းလာ တရားတော်များကို နာယူကျင့်မူ၍ အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်များကို ခံယူကြရမည်လော။ သို့တည်းမဟုတ်၊ ကုရ်အာန်ကျမ်းလာ တရားတော်များကို သွေဖည်ကြသည့်အတွက် ပြစ်ဒဏ်ခတ်တော်မူခြင်းပင် ခံကြရမည်လော၊ အလ္လာဟ်အရှင်မြတ်ပင်သိတော်မူသည်။ ကျွန်ုပ်တို့မူ မသိကြပေ။" ဟု ထုတ်ဖော်ပြောဆိုခဲ့ကြလေသည်။

① ကုရ်အာန်ကျမ်းမြတ်(၇၂း၁-၁၅)တွင် မွတ်စ်လင်မ်ဂျင်န်များအချင်း ပြောဆိုခဲ့ကြသည့်စကားရပ်များကို ထုတ်ဖော်မိန့်ဆိုထားတော်မူသည်။ ရှေ့တွင် ဆက်လက်၍ အလ္လာဟ်အရှင်မြတ်သည် အချို့တရားတော်များကို မိန့်ကြားထားတော်မူသည်။

وَّاَنۡ لَّوِ اسۡتَقَامُوۡا عَلَى الطَّرِيۡقَةِ لَاَسۡقَيۡنٰهُمۡ مَّآءً غَدَقًا ﴿۱۶﴾

၁၆။ စင်စစ်သော်ကား အကယ်၍သာ ၎င်းတို့သည် (တရား)လမ်း(မှန်)ပေါ်၌ တည်ကြည်ဖြောင့်မတ်ကြွခိုင်စွာတည်တံ့ခဲ့ကြလျှင် အမှန်ပင် ငါအရှင်မြတ်သည် ၎င်းတို့အား လှိုင်လှိုင်ရှိသော (ဖောဖောသီသီရှိသော)ရေကို တိုက်ကျွေးတော်မူမည်ဖြစ်၏။

لِّنَفۡتِنَهُمۡ فِيۡهِ‌ ؕ وَمَنۡ يُّعۡرِضۡ عَنۡ ذِكۡرِ رَبِّهٖ يَسۡلُكۡهُ عَذَابًا صَعَدًا ﴿۱۷﴾

၁၇။ ငါအရှင်မြတ်သည် ၎င်းတို့အား ထိုရေနှင့် စပ်လျဉ်း၍ စမ်းသပ်တော်မူအံ့သောငှာ စင်စစ်သော်ကား မည်သူမဆို မိမိအား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်အား အောက်မေ့တသ သတိရခြင်းမှ မျက်နှာလွှဲသည်ရှိသော် ထိုအရှင်မြတ်သည် ၎င်းအား ပြင်းထန်သော ပြစ်ဒဏ်သို့ ဝင်ရောက်စေတော်မူအံ့သတည်း။ [၁]

وَّاَنَّ الۡمَسٰجِدَ لِلّٰهِ فَلَا تَدۡعُوۡا مَعَ اللّٰهِ اَحَدًا ﴿۱۸﴾

၁၈။ ထိုမှတစ်ပါး (ငါ့ထံသို့ အမိန့်တော်ထုတ်ပြန်ခြင်းခံခဲ့ရလေ၏)။ ဧကန်မလွဲ 'မတ်စ်ဂျစ်ဒ်'ပျပ်ဝပ်ဦးချရာနေရာများသည် အလ္လာဟ်အရှင်မြတ်နှင့်သာ သက်ဆိုင်ကြ၏။ သို့ဖြစ်ပေရာ အသင်တို့သည် အလ္လာဟ်အရှင်မြတ်နှင့်အတူ မည်သူတစ်ဦးတစ်ယောက်ကိုမျှပင် ဆည်းကပ်ကိုးကွယ်ခြင်း မပြုကြကုန်လင့်။ [၂]

---

① ဆိုလိုသည်ကား၊ ဂျင်န်နှင့်လူသားတို့သည် ဖြောင့်မတ်မှန်ကန်သော တရားလမ်းစဉ်ကို လိုက်နာကျင့်သုံးကြပါက၊ အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့အား ရုပ်၊ နာမ်ဆိုင်ရာ မင်္ဂလာအဖြာဖြာနှင့် ကျေးဇူးတော်အဖုံဖုံကို ချီးမြှင့်တော်မူပေမည်။ ယင်းသို့ ချီးမြှင့်တော်မူခြင်းဖြင့် မည်သူမည်ဝါတို့သည် ကျေးဇူးသိတတ်ကြသည်၊ မည်သူမည်ဝါတို့သည် ကျေးဇူးကန်းကြသည်ဟူသော အချက်သည်လည်း ပေါ်လွင်ထင်ရှားလာပေမည်။ တစ်နည်းဆိုသော် ကျေးဇူးပြုတော်မူခြင်းသည်ပင် စမ်းသပ်တော်မူခြင်းတစ်ရပ်ပင်။ သို့ဖြစ်ရာ ကျေးဇူးသိတတ်ရာသည်၊ ကျေးဇူးမကန်းရာ၊ အလ္လာဟ်အရှင်မြတ်အား မမေ့ရာ၊ မေ့က ပြစ်ဒဏ်ခံရမည်သာ။

② "မစာဂိဒ်"သည် "မတ်စ်ဂိဒ်"၏ ဗဟုဝုစ်ကိန်းဖြစ်သည်။ "မတ်စ်ဂိဒ်"၏ အဓိပ္ပါယ်မှာ ပျပ်ဝပ်ဦးချရာဌာနဟူ၍ဖြစ်သည်။ အလ္လာဟ်အရှင်မြတ်အား ခဝပ်ကိုးကွယ်ရန် ရည်သန်တည်ဆောက်ထားသော "ပလီ" ဝတ်ကျောင်းများကို ဆိုလိုသည်။



وَّاَنَّهٗ لَمَّا قَامَ عَبۡدُ اللّٰهِ يَدۡعُوۡهُ كَادُوۡا يَكُوۡنُوۡنَ عَلَيۡهِ لِبَدًا ؕ﴿۱۹﴾

၁၉။ ထို့ပြင် ဧကန်အမှန် အလ္လာဟ်အရှင်မြတ်၏ ကျွန်တော်(မုဟမ္မဒ်)သည် ထိုအရှင်မြတ်အား ဝတ်ပြုရန် (ထ၍)ရပ်သောအခါ ၎င်းတို့သည် ထိုကျွန်တော်(မုဟမ္မဒ်)အပေါ်ဝယ် ဝိုင်းအုံကြအုံ့ဆဲဆဲ ဖြစ်ခဲ့ကြကုန်၏။ ၁

قُلۡ اِنَّمَاۤ اَدۡعُوۡا رَبِّىۡ وَلَاۤ اُشۡرِكُ بِهٖۤ اَحَدًا ﴿۲۰﴾

၂၀။ (အို-နဗီတမန်တော်) အသင်ပြောကြားပါလေ။ (အချင်းတို့) ငါသည် မိမိအရှင်မြတ်အားသာလျှင် ဆည်းကပ်ကိုးကွယ်၏။ စင်စစ် ငါသည် မည်သူတစ်ဦးတစ်ယောက်ကိုမျှပင် ထိုအရှင်မြတ်နှင့် တွဲဖက်နိုင်းယှဉ် (ကိုးကွယ်)ခြင်းမပြုပေ။ ၂

---

➤➤ တမန်တော်မြတ်၏ နောက်လိုက်တပည့်သားများအဖို့ ပထဝီမြေကြီးအားလုံးသည်ပင် ပလီဝတ်ကျောင်းတော်ဖြစ်သည်၊ ဟဒီးဆ်ဩဝါဒတော်များတွင် အတိအလင်းလာရှိသည်။ သို့ပါသော်လည်း အလ္လာဟ်အရှင်မြတ်အား ခဝပ်ကိုးကွယ်ရန် ရည်သန်၍ သီးသန့် တည်ဆောက်ထားသော ပလီဝတ်ကျောင်းတော်များသည် အခြားပထဝီမြေကြီးများနှင့်မတူ၊ တစ်မူထူးခြားကြသည်။ ယင်းသို့သော ပလီဝတ်ကျောင်းတော်များတွင် အလ္လာဟ်အရှင်မြတ်အားသာလျှင် ခဝပ်ကိုးကွယ်ကြရပေမည်၊ ထိုအရှင်မြတ်မှတစ်ပါး အခြားအရာကို အလျှင်းမကိုးကွယ်ကြရ။ အလ္လာဟ်အရှင်မြတ်အား ခဝပ်ကိုးကွယ်ရန် ရည်သန်တည်ဆောက်ထားသော ပလီဝတ်ကျောင်းများတွင် ထိုအရှင်မြတ်အား မကိုးကွယ်ဘဲ အခြားအရာကို ဆည်းကပ်ကိုးကွယ်ပါက ထိုထက် ကြီးလေးသော ကျူးကျော်စော်ကားမှု ဆိုးရွားသောပြစ်မှုသည် အဘယ်မှာလျှင် ရှိနိုင်တော့အံ့နည်း။

အချို့မုဖတ်စိစိရ် ပညာရှင်များက ဤအာယတ်တော်တွင် လာရှိသော "မစာဂျိဒ်" ဟူသောပုဒ်ကို "စဂျ်ဒဟ်" ပျပ်ဝပ်ဦးချရာတွင် မြေနှင့်ထိသော ကိုယ်အင်္ဂါအစိတ်အပိုင်းများဟူ၍ အနက်ဖွင့်ကြသည်၊ ဆိုလိုသည်ကား ယင်းသည့် ကိုယ်အင်္ဂါအစိတ်အပိုင်းများသည် အလ္လာဟ်အရှင်မြတ် ချီးမြှင့်ထားတော်မူသော အရာများသာဖြစ်ပေရာ၊ယင်းသည့် အစိတ်အပိုင်းများကို မိမိတို့၏ အရှင်သခင်မှတစ်ပါးအခြားသူအား ဆည်းကပ်ကိုးကွယ်ရာတွင် အသုံးမပြုရ။

① ဤအာယတ်တော်တွင်ပါရှိသော "အဗ်ဒုလ္လာဟ်" (အလ္လာဟ်အရှင်မြတ်၏ ကျွန်တော်)ဟူသည် တမန်တော်မြတ်မုဟမ္မဒ် (ဆွာလ္လလ္လာဟု အလိုင်ဟိဝစ္စလာမ်)ပင်တည်း။ ကုရ်အာန်ကျမ်းမြတ်တွင် တမန်တော်မြတ်နှင့်ပတ်သက်၍လည်းကောင်း၊ အခြားတမန်တော်များနှင့် ပတ်သက်၍လည်းကောင်း၊ ဤသည့် အသုံးအနှုန်းများကို များစွာသုံးနှုန်းထားတော်မူသည်။ ကြည့်-ကုရ်အာန်(၂း၂၃။ ၈း၄၁။ ၃၈း၁၇။ ၃၈း၄၁။ ၅၄း၉။ ၁၇း၁။ ၁၈း၁။ ၁၉း၂။ ၂၅း၁။ ၃၉း၃၆။ ၅၃း၁၀။ ၅၇း၉)။

ဆိုလိုသည်ကား တမန်တော်မြတ်သည် မတ်တတ်ရပ်၍ ကုရ်အာန်ကျမ်းလာ တရားတော်များကို ရွတ်ဖတ်တော်မူသည့်အခါ လူများသည် တမန်တော်မြတ်ထံသို့ ဝိုင်းအုံ၍လာခဲ့ကြ၏။ ➤➤

قُلْ إِنِّي لَا أَمْلِكُ لَكُمْ ضَرًّا وَلَا رَشَدًا ﴿٢١﴾

၂၁။ (အို-နဗီတမန်တော်) အသင်ပြောကြားပါလေ။ ငါသည် အသင်တို့၏ ဆုံးရှုံးမှု၊ လမ်းလွဲမှုကိုလည်း ပိုင်ဆိုင်သည် မဟုတ်ပေ၊ (အသင်တို့၏) တရားလမ်းမှန်ရရှိရေးကိုလည်း ပိုင်ဆိုင်သည် မဟုတ်ပေ။

قُلْ إِنِّي لَن يُجِيرَنِي مِنَ اللَّهِ أَحَدٌ وَلَنْ أَجِدَ مِن دُونِهِ مُلْتَحَدًا ﴿٢٢﴾

၂၂။ အသင်သည် ပြောကြားပါဦးလေ။ (အချင်းတို့၊ အကယ်၍သာ ငါသည် အလ္လာဟ်အရှင်မြတ်အား ဖီဆန်ခဲ့မှု) မည်သူတစ်ဦးတစ်ယောက်မျှပင် ငါ့အား အလ္လာဟ်အရှင်မြတ်(၏ပြစ်ဒဏ်)မှ အလျှင်းကာကွယ်စောင့်ရှောက်နိုင်မည် မဟုတ်ပေ။ ထို့ပြင် ငါသည် ထိုအရှင်မြတ်(အထံတော်)မှတစ်ပါး မည်သည့်ခိုလှုံရာနေရာကိုမျှ အလျှင်းတွေ့နိုင်မည် မဟုတ်ပေ။

إِلَّا بَلَاغًا مِّنَ اللَّهِ وَرِسَالَاتِهِ ۚ وَمَن يَعْصِ اللَّهَ وَرَسُولَهُ فَإِنَّ

၂၃။ (စင်စစ်သော်ကား) အလ္လာဟ်အရှင်မြတ်၏ ကိုယ်စား (ထိုအရှင်မြတ်၏အမိန့်တော်များကို အသင်တို့ထံ) ပို့ဆောင်၍သာလျှင်လည်းကောင်း၊ ထိုအရှင်မြတ်၏အကြောင်းကြားချက်များကို (ပို့ဆောင်ခြင်း)သာလျှင် ကာကွယ်နိုင်ပေမည်။ [၁] (စွမ်းဆောင်နိုင်၏)။

>> (အီမာန်) သက်ဝင်ယုံကြည်သော မှအ်မင်န်များသည် ကုရ်အာန်ကျမ်းလာ တရားတော်များကို ကြားနာနိုင်ရန်အလို့ငှာ ကောင်းမြတ်သောစေတနာဖြင့် လာခဲ့ကြ၏။ ကာဖိရ်များမူ ရန်ငြိုးထားမှု၊ မလိုမုန်းတီးမှုများကြောင့် တမန်တော်မြတ်အား ရန်ပြုရန် ဝိုင်းအုံခဲ့ကြ၏။

(၂) တမန်တော်မြတ်အား ကာဖိရ်များကို ပြောကြားစေတော်မူသည်မှာ အသင်တို့သည် ကျွန်ုပ်အား ဆန့်ကျင်ရန်၊ ရန်ပြုရန် အဘယ့်ကြောင့် ဝိုင်းအုံကြသနည်း။ ကျွန်ုပ်ဟောကြားသော တရားများတွင် အသင်တို့ ဒေါသထွက်ရန် စကားတစ်ခွန်းတစ်ပါဒမျှမပါ၊ ကျွန်ုပ်သည် အဓိပ္ပါယ်မရှိသော စကားများကို ပြောဆိုနေသည်လည်းမဟုတ်၊ ကျွန်ုပ်သည် မိမိ၏အရှင်သခင်အား တ,သသည်၊ ဆည်းကပ်ကိုးကွယ်သည်၊ ထိုအရှင်မြတ်နှင့်ယှဉ်တွဲ၍ မည်သည့်အရာကိုမျှ မကိုးကွယ်ပါ၊ အသင်တို့သည် ကျွန်ုပ်အား ဝိုင်းအုံ၍ အန္တရာယ်ပြုလိုပါက အသင်တို့ သိထားအပ်သည်မှာ ကျွန်ုပ်သည် ထိုအရှင်မြတ်တစ်ပါးတည်းအပေါ်၌သာ ယုံပုံလွှဲအပ်ထားသည်။ ထိုအရှင်မြတ်သည် ကျွန်ုပ်အား အန္တရာယ်အပေါင်းမှ ကာကွယ်ထိန်းသိမ်းတော်မူမည်သာဖြစ်သည်။

(၁) တမန်တော်မြတ်အား ဆက်လက် ပြောကြားစေတော်မူသည်မှာ အသင်တို့အား လမ်းမှန်ပေါ်သို့ မရအရ ဆွဲခေါ်လာရန် ကျွန်ုပ်မစွမ်းနိုင်၊ အသင်တို့ လမ်းမှန်ပေါ်သို့ ရောက်မလာကြသည့်အတွက် အသင်တို့အား ကျွန်ုပ်သည် တစ်စုံတစ်ရာဆုံးရှုံးအောင်လည်း ပြုစွမ်းနိုင်သည်မဟုတ်၊ အကျိုးပြုမှု၊ အကျိုးယုတ်စေမှု၊>>

لَهُ نَارَ جَهَنَّمَ خٰلِدِيْنَ فِيْهَآ اَبَدًا ﴿٢٣﴾

စင်စစ်တမူကား မည်သူမဆို အလ္လာဟ်အရှင်မြတ်အားလည်းကောင်း၊ ထိုအရှင်မြတ်၏ ရစူလ်တမန်တော်မြတ်အားလည်းကောင်း၊ ဖီဆန်သည်ရှိသော် ဧကန်အမှန် ထိုသူ၏အဖို့ "ဂျဟန္နမ်" ငရဲမီးသည် ရှိပေသည်။ (၎င်းတို့မှာ) ယင်းမီး၌ အမြဲထာဝစဉ် နေထိုင်သူများအဖြစ် (ဝင်ရောက်ကြရလတ္တံ့)။ [၁]

حَتّٰٓى اِذَا رَاَوْا مَا يُوْعَدُوْنَ فَسَيَعْلَمُوْنَ مَنْ اَضْعَفُ نَاصِرًا وَّاَقَلُّ عَدَدًا ﴿٢٤﴾

၂၄။ နောင်တွင် ၎င်းတို့သည် မိမိတို့ ချိန်းဆိုခြင်းခံကြရသည့် (ပြစ်ဒဏ်)ကို တွေ့မြင်ကြလေသောအခါ မည်သူ၏ကူညီစောင်မသောသူသည် အားနည်းသည်ကိုလည်းကောင်း၊ အရေအတွက်အားဖြင့် နည်းပါးသည်ကိုလည်းကောင်း၊ မုချ သိရှိကြကုန်အံ့သတည်း။

قُلْ اِنْ اَدْرِيْٓ اَقَرِيْبٌ مَّا تُوْعَدُوْنَ اَمْ يَجْعَلُ لَهٗ رَبِّيْٓ اَمَدًا ﴿٢٥﴾

၂၅။ (အို-နဗီတမန်တော်) အသင်သည် ပြောကြားပါလေ။ (အချင်းတို့) အသင်တို့ ချိန်းဆိုခြင်းခံကြရသော(ကိယာမတ်နေ့)မှာ နီးလေသလော၊ သို့တည်းမဟုတ် ငါ့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်သည် ယင်း(ကိယာမတ်နေ့)နှင့်စပ်လျဉ်း၍ အဝွန့်ရှည်သော ကာလအပိုင်းအခြားကို သတ်မှတ်၍ ထားတော်မူလေသလောဟူ၍ ငါသည် သိရှိသည်မဟုတ်ပေ။

➤➤ ဒုက္ခ၊ သုခအဝဝသည် အလ္လာဟ်အရှင်မြတ်၏ လက်တော်တွင်း၌သာဖြစ်သည်။ ကျွန်ုပ်သည် အသင်တို့အား အကျိုးပြုနိုင်ရန်၊ ဒုက္ခပေးနိုင်ရန်ဝေးစွ၊ ကျွန်ုပ်သည် မိမိကိုယ်ကိုပင်မိမိ တစ်စုံတစ်ရာအကျိုးမပြုနိုင်၊ အကျိုးမယုတ်စေနိုင်။ အကယ်တန္တိ ကျွန်ုပ်သည် မိမိထမ်းဆောင်ရန် တာဝန်တစ်ရပ်ရပ် ပျက်ကွက်မိပါက၊ ကျွန်ုပ်အား အလ္လာဟ်အရှင်မြတ်၏ပြစ်ဒဏ်မှ အသူမျှ ကာကွယ်ပေးနိုင်မည်မဟုတ်။ ထိုအရှင်မြတ်၏ထံတော်မှ တစ်ပါးအခြားခိုလှုံစရာဟူ၍ အလျှင်းတွေ့ရှိရမည်လည်း မဟုတ်။

အလ္လာဟ်အရှင်မြတ်ထံတော်မှ တရားတော်များကို လူသားတို့ထံသို့ ဟောကြားခြင်းသည် ကျွန်ုပ်၏ အဓိကတာဝန်ဖြစ်သည်။ ဤသည့်တာဝန်ကို ကျေပွန်စွာ ထမ်းဆောင်ခြင်းအားဖြင့်သာလျှင် ကျွန်ုပ်သည် ထိုအရှင်မြတ်၏ထံတော်၌ ခိုလှုံနိုင်ပေမည်။

(၁) တမန်တော်မြတ်အား ဆက်လက်ပြောကြားစေတော်မူသည်မှာ ကျွန်ုပ်သည် အသင်တို့၏ ဒုက္ခ၊ သုခကို မပိုင်၊ သို့တစေလည်း အလ္လာဟ်အရှင်မြတ်အား ဆန့်ကျင်လျှင်၊ ကျွန်ုပ်အား ဆန့်ကျင်လျှင် ဆန့်ကျင်သူ➤➤

عٰلِمُ الْغَيْبِ فَلَا يُظْهِرُ عَلٰى غَيْبِهٖٓ اَحَدًا ۙ﴿٢٦﴾

၂၆။ (ထိုအရှင်မြတ်သည်ပင်) ဖုံးကွယ်လျက်ရှိသည်တို့ကို သိရှိတော်မူသောအရှင် ဖြစ်တော်မူ၏။ စင်စစ်သော်ကား ထိုအရှင်မြတ်သည် ဖုံးကွယ်လျက်ရှိသည်တို့နှင့်စပ်လျဉ်းသော မိမိအသိပညာကို မည်သူတစ်ဦးတစ်ယောက်ကိုမျှပင် အသိပေးတော်မူသည် မဟုတ်ပေ။ ၁

اِلَّا مَنِ ارْتَضٰى مِنْ رَّسُوْلٍ فَاِنَّهٗ يَسْلُكُ مِنْۢ بَيْنِ يَدَيْهِ وَمِنْ خَلْفِهٖ رَصَدًا ۙ﴿٢٧﴾

၂၇။ သို့ရာတွင် ထိုအရှင်မြတ်သည် မိမိကျေနပ်နှစ်သက်တော်မူသော ရစူလ်တမန်တော်တစ်ပါးပါး အား (ဖုံးကွယ်လျက်ရှိသော အကြောင်းအရာ တစ်စုံတစ်ရာကို သိစေလိုတော်မူပါလျှင် (ဧကန်အမှန် ထိုအရှင်မြတ်သည် ထိုရစူလ်တမန်တော်၏ရှေ့၌လည်းကောင်း၊ နောက်၌လည်းကောင်း၊ စောင့်ကြပ်သူ (ကောင်းကင်တမန်)ကို စေလွှတ်တော်မူ၏။ ၂

---

>> ဒုက္ခဖြစ်မည်အမှန်ပင်၊ ငရဲသို့လားရမည်မုချပင်။

(၁) အလ္လာဟ်အရှင်မြတ်သည် အားလုံးသိတော်မူသည်၊ "ဃိုက်ဗ်" အကွယ်၌ရှိသော အရာအားလုံးကိုလည်း သိတော်မူသည်။ အကွယ်၌ရှိသော အရာများနှင့်စပ်လျဉ်း၍ အလ္လာဟ်အရှင်မြတ်သည် မည်သူ့အားမျှ အတိအကျ အသိပေးတော်မမူပေ၊ သို့ရာတွင် အချို့တမန်တော်များအားမူ လိုအပ်သည်နှင့်အမျှ အသိပေးတော်မူသည်။

(၂) ဆိုလိုသည်ကား အလ္လာဟ်အရှင်မြတ်သည် ပထမသော် အကွယ်၌ရှိသည့် မိမိ၏လျှို့ဝှက်ချက်များနှင့် စပ်လျဉ်း၍ မည်သူ့အားမျှ အတိအကျ အသိပေးတော်မမူပေ။ သို့ရာတွင် လိုအပ်ပါက အချို့တမန်တော်များအား ထိုက်တန်သည့်အားလျော်စွာ (ဝဟီ)ဖြင့်အသိပေးတော်မူသည်။

ထိုအသိပေးတော်မူရာတွင်လည်း အဆိုပါ(ဝဟီ) နှင့်အတူ ရှေ့-နောက် ထက်-အောက်အဘက်ဘက်တွင် ကောင်းကင်တမန်များအား အစောင့်အကြပ် ချထားတော်မူသည်။ ယင်းသို့ အစောင့်အကြပ်များ ချထားတော်မူခြင်းဖြင့် အလ္လာဟ်အရှင်မြတ်ထံမှ သက်ဆိုင်ရာ တမန်တော်များထံသို့ ရောက်ရှိလာသော (ဝဟီ)သည် တိကျသည်၊ မှန်ကန်သည်၊ ဒွိဟသံသယကင်းသည်၊ လုံးဝ ယုံကြည်စိတ်ချရသည်။ ရှိုင်တွာန်များသည်လည်း မည်သို့မျှ အနှောင့်အယှက် မပြုနိုင်ကြပေ။

لِّيَعۡلَمَ أَن قَدۡ أَبۡلَغُواْ رِسَٰلَٰتِ رَبِّهِمۡ وَأَحَاطَ بِمَا لَدَيۡهِمۡ وَأَحۡصَىٰ كُلَّ شَيۡءٍ عَدَدَۢا ۝٢٨

၂၈။ (ယင်းသို့ ပြုလုပ်တော်မူခြင်းမှာ) ထို(ရစူလ်တမန်တော်များသည်လည်းကောင်း၊ ကောင်းကင်တမန်များသည်လည်းကောင်း၊) မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်၏ အကြောင်းကြားချက်တို့ကို (တိကျမှန်ကန်စွာ)ပို့ဆောင်ခဲ့ကြသည်ကို ထိုအရှင် သိတော်မူအံ့သောငှာ (ပြုလုပ်တော်မူခြင်း) ဖြစ်၏။ [၁]

စင်စစ်သော်ကား ထိုအရှင်မြတ်သည် ထို(ရစူလ်တမန်တော်များနှင့် ကောင်းကင်တမန်)တို့၏ အခြေအနေတို့ကို ဝန်းရံလျက်ရှိတော်မူသည်သာမက အရာခပ်သိမ်းတို့၏ အရေအတွက်ကိုလည်း ရေတွက်၍ ထားရှိတော်မူပြီး ဖြစ်ပေသတည်း။

---

(၁) ယင်းသို့ အစောင့်အကြပ်များ စနစ်တကျ ချထားတော်မူခြင်းမှာ ကောင်းကင်တမန်များသည် သက်ဆိုင်ရာ တမန်တော်များထံသို့လည်းကောင်း၊ တမန်တော်များသည် သက်ဆိုင်ရာ အမျိုးသားများထံသို့လည်းကောင်း၊ သက်ဆိုင်ရာ တရားတော်များကို တိကျမှန်ကန်စွာပေးပို့ကြသည်၊ မပေးပို့ကြသည်၊ ဟောကြားကြသည်၊ မဟောကြားကြသည်ကို အထင်အရှား သိမြင်တော်မူရန်ပင် ဖြစ်သည်။

# ကိုယ်ရုံ ရုံထားသူကဏ္ဍ

سُوْرَةُ الْمُزَّمِّلِ

ဤကဏ္ဍသည် "မွတ်ဇ်ဇမ်မစ်လ်" "ကိုယ်ရုံရုံထားသူ"၊ "အဝတ်ခြုံထားသူ" ကဏ္ဍမည်၏။
မက္ကာမြို့တော်၌ကျရောက်ခဲ့၏။ ဤကဏ္ဍတွင် အာယတ်တော်အပါး(၂၀)၊
ရကူအ်အပိုဒ် (၃)ပိုဒ် အသီးသီးပါရှိ၏။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ

အလွန်တရာ ကြင်နာသနားတော်မူသော၊
ကရုဏာတော်ရှင်ဖြစ်တော်မူသော၊
အလ္လာဟ်အရှင်မြတ်၏နာမံတော်ဖြင့် အစပြုပါ၏။

يٰٓاَيُّهَا الْمُزَّمِّلُ ۝١ قُمِ الَّيْلَ اِلَّا قَلِيْلًا ۝٢

၁။ အို-အဝတ်ခြုံထားသူ။ [၁]

၂။ အသင်သည် ညဉ့်၌(ထ၍ ဆွလာတ်ဝတ်ပြု) ပါလေ။ သို့ရာတွင် အနည်းငယ် (အနားယူအိပ်စက်ပါလေ)။

نِّصْفَهٗٓ اَوِ انْقُصْ مِنْهُ قَلِيْلًا ۝٣ اَوْ زِدْ عَلَيْهِ وَرَتِّلِ الْقُرْاٰنَ تَرْتِيْلًا ۝٤

၃။ (ဝါ) ညဉ့်ဝက် သို့တည်းမဟုတ်၊ ယင်းညဉ့်ဝက်ထက် အနည်းငယ်လျှော့၍၊

၄။ သို့တည်းမဟုတ် ယင်းညဉ့်ဝက်ထက် ပို၍ (အနားယူ အိပ်စက်ပါလေ)။ [၂] ၎င်းပြင် အသင်သည် ကုရ်အာန်ကျမ်းတော်မြတ်ကို အလွန် ကောင်းမွန်စွာ ကွဲပြားခြားနား ရှင်းလင်း ပီသအောင် အေးအေး ဆေးဆေး ဖြည်းဖြည်းမှန်မှန် ဌာန်ကရိုဏ်းကျကျ ရွတ်ဖတ် သရဇ္ဈာယ်ပါလေ။ [၃]

---

⓵ ဤကဏ္ဍသည် မက္ကာမြို့တော်၌ ကျရောက်ခဲ့သော ကဏ္ဍများအနက်၊ အဦးအစ ပထမကျရောက်ခဲ့သော ကဏ္ဍများတွင် အပါအဝင်ဖြစ်သည်။ အစပထမတွင် အလ္လာဟ်အရှင်မြတ်ထံတော်မှ တမန်တော်မြတ်ထံသို့ (ဝဟီ) အာယတ်တော်များ စတင်ကျရောက်လာခဲ့သည့်အခါ တမန်တော်မြတ်သည် အလွန်လေးလံနက်နဲသော အာယတ်တော်များကို မကြားစဖူး ကြားနာတော်မူရသည့်အတွက် လူ့သဘာဝအလျောက် ထိတ်လန့်နေတော်မူခဲ့၏။ တုန်လှုပ်၍ နေတော်မူခဲ့၏။ ထိုအခါ တမန်တော်မြတ်က မိမိအိမ်တော်သူအိမ်တော်သားများအား "ဇမ္မိလူနီ၊ ဇမ္မိလူနီ" "အသင်တို့သည် ကျွန်ုပ်အား စောင်ခြုံပေးကြလော့၊ အသင်တို့သည် ကျွန်ုပ်အားစောင်ခြုံပေးကြလော့"➤➤

إِنَّا سَنُلْقِي عَلَيْكَ قَوْلًا ثَقِيلًا ﴿٥﴾

၅။ ဧကန်အမှန် ငါအရှင်မြတ်သည် အသင့် အပေါ်ဝယ် လေးလံသောအာယတ်တော်ကို မကြာ မြင့်မီပင် ချပေးတော်မူပေမည်။ ၁

---

➤➤ ဟု ပြောကြားတော်မူခဲ့၏၊ အိမ်တော်သူ အိမ်တော်သားများကလည်း တမန်တော်မြတ်အား စောင်ခြုံ၍ ပေးတော်မူခဲ့ကြ၏။ ယင်းသို့ တမန်တော်မြတ် စောင်ခြုံ၍နေတော်မူသည့် ပုံပန်းသဏ္ဍာန်ကိုပင် အလ္လာဟ်အရှင်မြတ်သည် နှစ်သက်တော်မူလှသဖြင့် တမန်တော်မြတ်အား ဤကဏ္ဍတွင်လည်းကောင်း၊ ဤကဏ္ဍ၏နောက်ရှိ ကဏ္ဍတွင်လည်းကောင်း၊ အို-စောင်ခြုံထားသူဟူ၍ ချစ်ကြည်မြတ်နိုးစဖွယ် ခေါ်ဝေါ်သုံးနှုန်းထားတော်မူခြင်းဖြစ်သည်။

② <u>ညဉ့် ထ၊ ဆွလာတ်ဝတ်ပြု။</u>

ဆိုလိုသည်ကား တမန်တော်မြတ်သည် ညဉ့်တွင် ဆွလာတ်ဝတ်ပြုရန် ထတော်မူရမည်။ သို့ရာတွင် ညဉ့်အနည်းငယ်(ဝါ) ညဉ့်ထက်ဝက် တစ်ဝက်တွင်မူ ထရန်မလို၊ အနားယူတော်မူနိုင်ပေသည်။ သို့တည်းမဟုတ် တမန်တော်မြတ်သည် ညဉ့်၏ထက်ဝက်ထက် အနည်းငယ်လျော့၍ (ဝါ) ညဉ့်၏ထက်ဝက်ထက်လျော့၍ ဆွလာတ်ဝတ်ပြုတော်မူပြီး ညဉ့်၏ထက်ဝက်ထက်ပို၍ အနားယူတော်မူရမည်၊ တစ်နည်း-ညဉ့်တွင် ညဉ့် ၃-ပုံ ၁-ပုံတွင် ဆွလာတ်ဝတ်ပြုတော်မူရမည်။ သို့တည်းမဟုတ် တမန်တော်မြတ်သည် ညဉ့်၏ထက်ဝက်ထက် အနည်းငယ်ပို၍(ဝါ) ညဉ့်၏ထက်ဝက်ပို၍ ဆွလာတ်ဝတ်ပြုတော်မူပြီး၊ ညဉ့်၏ထက်ဝက်ထက် လျော့၍၊ တစ်နည်း ညဉ့် ၃-ပုံ ၂-ပုံတွင် ဆွလာတ်ဝတ်ပြုတော်မူရမည်။ ဤသည့်သဘောကို ကုရ်အာန်ကျမ်းမြတ် (၇၃း၂၀)တွင် မိန့်ဆိုထားတော်မူသည်။ အချုပ်ဆိုရသော်-ညဉ့်ထ၍ ဆွလာတ်ဝတ်ပြုရန် အချိန်ပိုင်းမှာ သုံးမျိုးသုံးစားအနက်၊ ကြိုက်နှစ်သက်ရာ အချိန်ပိုင်းကို ရွေးချယ်တော်မူနိုင်သည်။ အဆိုပါအချိန်ပိုင်းသုံးမျိုးမှာ (၁)ညဉ့်၏ထက်ဝက်၊ (၂)ညဉ့် ၃-ပုံ ၂-ပုံ၊ (၃)ညဉ့် ၃-ပုံ ၁-ပုံ ဖြစ်သည်။ ကြည့်-ထာနဝီ။

③ ဆိုလိုသည်ကား ညဉ့်ထ၍ "တဟဂျ်ဒ်" ဆွလာတ်ဝတ်ပြုရာတွင် ကုရ်အာန်ကျမ်းမြတ်ကို ဌာန်ကရိုဏ်းကျကျ ပီပီသသ၊ ဖြည်းညှင်းသာယာစွာ ရွတ်ဖတ်သရဇ္ဈာယ်ရမည်။ ယင်းသို့ ရွတ်ဖတ်ခြင်းဖြင့် မိမိရွတ်ဖတ်သော ကုရ်အာန်ကျမ်းလာ အာယတ်တော်များကို ကောင်းစွာနားလည်သဘောပေါက်နိုင်ပေသည်။ စိတ်နှလုံးသားပေါ်တွင် ပို၍ အကျိုးလည်းသက်ရောက်ပေသည်။ ကုရ်အာန်ကျမ်းမြတ်ကို ရွတ်ဖတ်လိုသည့် နားလည်သဘောပေါက်လိုသည့် ဆန္ဒသည်လည်း ပို၍ပို၍ များလာသည်၊ ထက်သန်လာသည်။

① အလ္လာဟ်အရှင်မြတ်သည် တမန်တော်မြတ်ထံသို့ အလွန်လေးနက်သော ကုရ်အာန်ကျမ်းမြတ်လာ အာယတ်တော်များကို ဆက်လက်၍ ဆက်တိုက်ထုတ်ပြန် ချမှတ်တော်မူမည်ဖြစ်သည်။ တမန်တော်မြတ်သည် ယင်းသည့် ကုရ်အာန်ကျမ်းလာ အာယတ်တော်များကို မိမိကိုယ်တိုင် နာယူကျင့်မူရမည်သာမက၊ ကမ္ဘာအဝှန်းကို လည်း ဟောကြားတော်မူရပေမည်။ ယင်းသို့ ဟောကြားတော်မူရာ၌ ဘေးအန္တရာယ်အမျိုးမျိုးနှင့်လည်း ရင်ဆိုင်တော်မူရပေဦးမည်။ ယင်းသို့ မကြာမီအတွင်း ကျရောက်လာတော်မူမည့် အာယတ်တော်များကို ကြားနာဟောကြားတော် မူနိုင်ရန်နှင့်၊ တွေ့ကြုံရမည့် အန္တရာယ်များကို အပြုံးနှင့် ရဲရဲရင်ဆိုင်တော်မူနိုင်ရန်အလို့ငှာ အလ္လာဟ်အရှင်မြတ်က တမန်တော်မြတ်အား ယင်းသို့ ညဉ့်ထ၍ ဆွလာတ်ဝတ်ပြုစေတော်မူခြင်း၊ ကုရ်အာန်ကျမ်းမြတ်ကို ရွတ်ဖတ် သရဇ္ဈာယ်စေတော်မူခြင်း ဖြစ်သည်။ ယင်းသို့ ပြုလုပ်စေတော်မူခြင်းအားဖြင့် တမန်တော်မြတ်၌ လိုအပ်သည့်➤➤

إِنَّ نَاشِئَةَ الَّيْلِ هِيَ أَشَدُّ وَطْـًٔا وَأَقْوَمُ قِيلًا ⑥

၆။ စင်စစ်ကေန် ညဉ့်၌ (အိပ်ရာမှ)ထခြင်းသည် (ကိုယ်နှုတ်နှလုံးတို့ကို) ပိုမို၍ သပ္ပာယဖြစ်စေသည်၊ စကားပြောဆိုရာတွင်လည်း ပိုမို၍ပင် တိကျမှန်ကန်စေသည်။ ၁

إِنَّ لَكَ فِي النَّهَارِ سَبْحًا طَوِيلًا ⑦

၇။ ကေန်မလွဲ နေ့တွင် အသင်၌ လုပ်ကိုင်ဆောင်ရွက်ရန် ကိစ္စများပြားစွာ ရှိပေ၏။ ၂

---

➤➤ အရည်အသွေးများ၊ အရည်အချင်းများ၊ စွမ်းရည်သတ္တိများ အသင့်ရှိလာပေမည်၊ အခက်အခဲများကို ကျော်လွှန်နိုင်ရန် ခံနိုင်ရည်လည်း ရှိလာပေမည်။ ဤသည် တစ်နည်း ကြိုတင်လေ့ကျင့်ပေးတော်မူခြင်းပင်။

ကုရ်အာန်ကျမ်းမြတ်သည် အဆင့်အတန်းအားဖြင့် အတိုင်းမသိ အလွန်ကြီးကဲမြင့်မြတ်သည်၊ အလွန်လေးနက်သည်၊ ကုရ်အာန်ကျမ်းမြတ် ကျရောက်လာသည့်အခါ ယင်းသို့ကျရောက်လာသည့်အရှိန်မှာလည်း အလွန်လေးလံလှပေသည်။ (ဟဒီးဆ်) သြဝါဒတော်များတွင် လာရှိသည်မှာ ကုရ်အာန်ကျမ်းလာ အာယတ်တော်များ ကျရောက်လာသည့်အချိန်တွင်၊ တမန်တော်မြတ်သည် အလွန်လေးလံသော လေးလံမှုကို ခံစားတော်မူရပေသည်၊ ဆောင်းရာသီတွင် တမန်တော်မြတ်၌ ချွေးများဖြိုက်ဖြိုက်ကျလာပေသည်။ အာယတ်တော်များ ကျရောက်သည့်အချိန်တွင် တမန်တော်မြတ်သည် အစီးအနင်းပေါ်၌ ရှိနေတော်မူပါက၊ အဆိုပါအစီးအနင်းသည် ထမ်းဆောင်နိုင်သည်မရှိပေ၊ တစ်ရက် တမန်တော်မြတ်သည် သာဝကကြီး ဇိုက်ဒ်ဗ္ဗဇ်နဆာဗိတ်၏ ပေါင်ပေါ်၌ မှီ၍ နေတော်မူခဲ့၏။ ထိုအချိန်တွင် အာယတ်တော်များ ကျရောက်လာခဲ့၏။ ထိုအခါ သာဝကကြီးဇိုက်ဒ်သည် အရိုးကွဲလုမတတ် ခံစားခဲ့ရသည်။

⑴ ညဉ့်၌နိုးထခြင်းသည် လွယ်ကူသော အလုပ်မဟုတ်ပေ။ အလွန်ခက်သည်၊ တာဝန်ကြီးလှသည်၊ အလွန်ကြီးလေးသော လေ့ကျင့်မှုနှင့် မိမိ၏အလိုဆန္ဒကို သတ်ခြင်းဖြစ်သည်။ ယင်းသို့ နိုးထခြင်းဖြင့် မိမိ၏ စိတ်ဆင်ရိုင်းကို နိုင်၏။ စိတ်၏အလိုများ ချေမှုန်းနိုင်၏။ ထို့ပြင်တစ်ဝ ညဉ့်တွင် ပန်ကြားသည့်ဆုမွန်နှင့် တသမှုသည် စိတ်နှလုံးသည်းပွတ်အတွင်းမှ ထွက်ပေါ်လာသော ဆုမွန်နှင့် တသမှုဖြစ်သည်။ ထိုမှတစ်ပါး ညဉ့်အချိန်တွင် နှုတ်လျှာနှင့် စိတ်နှလုံးသည် စပ်မိ ဟပ်မိသည်၊ သပ္ပာယ ဖြစ်သည်၊ နှုတ်လျှာမှ ထွက်ပေါ်လာသော စကားသည် ဦးနှောက်တွင် သံမှိုနှက်ထားသည့်အလား စွဲထင်၍နေသည်။ အဘယ်ကြောင့်ဆိုသော် နေ့တွင် ဆူညံသံများရှိသော်လည်း ညဉ့်အချိန်တွင် ဆိတ်ငြိမ်လျက်ရှိသည်၊ စိတ်နှလုံး တည်ငြိမ်သည်၊ စိတ်၏ချမ်းသာမှု အပြည့်အဝရှိသည်။ ထို့အတွက်ကြောင့်ပင် တမန်တော်မြတ်အား ညဉ့်တွင် နိုးထ၍ ဆွလာတ်ဝတ်ပြုရန်၊ ကုရ်အာန်ကျမ်းမြတ် ရွတ်ဖတ်ရန်၊ အမိန့်ပေးတော်မူခြင်းဖြစ်သည်။

⑵ ဆိုလိုသည်ကား တမန်တော်မြတ်၌ နေ့တွင် တရားတော်ဖြန့်ချီမှု၊ တရားဟောကြားမှု၊ လောကီရေးကိစ္စ၊ အိမ်တွင်းရေးကိစ္စ စသည်ဖြင့် လုပ်ငန်းဆောင်တာ များမြောင်၏။ ဤသည်တို့သည်လည်း တမန်တော်မြတ်အဖို့ သွယ်ဝိုက်သောအားဖြင့် (အီဗာဒတ်) ဝတ်ပြုမှုတွင် အကြုံးဝင်ပေသ**ည်**။ သို့တစေလည်း တမန်တော်မြတ်သည် အခြားအဆက်အသွယ်မပါဘဲ တိုက်ရိုက် အလ္လာဟ်အရှင်မြတ်အား ဝတ်ပြုနိုင်ရန်နှင့် လျှို့ဝှက်စွာ ပန်ကြားနိုင်ရန် အလို့ငှာ ညဉ့်အချိန်ကိုပင် ရွေးချယ်တော်မူရပေမည်။

وَاذْكُرِ اسْمَ رَبِّكَ وَتَبَتَّلْ إِلَيْهِ تَبْتِيلًا ⑧

၈။ ၎င်းပြင် သင်သည် အသင့်အား ဖန်ဆင်း မွေးမြူတော်မူသောအရှင်မြတ်၏နာမံတော်ကို ရွတ်ဆို တသပါလေ။ ထိုမှတစ်ပါး အသင်သည် အနှောင် အဖွဲ့ဟူသမျှတို့ကို ဖြတ်တောက်၍ ထိုအရှင်မြတ်ဘက် သို့သာလျှင် အာရုံစူးစိုက်လျက် ရှိပါလေ။ [၁]

رَبُّ الْمَشْرِقِ وَالْمَغْرِبِ لَا إِلَٰهَ إِلَّا هُوَ فَاتَّخِذْهُ وَكِيلًا ⑨

၉။ (ထိုအရှင်မြတ်)သည် နေထွက်ရာ အရပ်ကို လည်းကောင်း၊ နေဝင်ရာ အရပ်ကိုလည်းကောင်း၊ ဖန်ဆင်းတော်မူသောအရှင် ဖြစ်တော်မူ၏။ သို့ဖြစ် ပေရာ (အို-နဗီတမန်တော်) အသင်သည် ထိုအရှင် မြတ်အားသာလျှင် ကိစ္စအဝဝကို ပြီးစီးအောင် ဆောင် ရွက်ပေးတော်မူသောအရှင်မြတ်အဖြစ် ရွေးချယ်ပါလေ။

وَاصْبِرْ عَلَىٰ مَا يَقُولُونَ وَاهْجُرْهُمْ هَجْرًا جَمِيلًا ⑩

၁၀။ ထိုမှတစ်ပါး (အို-နဗီတမန်တော်) အသင် သည် ၎င်းတို့၏ပြောဆိုချက်များနှင့်စပ်လျဉ်း၍ သည်း ခံ၍နေပါလေ။ [၂] ထို့ပြင် အသင်သည် ၎င်းတို့ထံမှ ကောင်းမွန်လှပစွာ ကင်းလွတ်၍နေပါလေ။ ၎င်းတို့ အား (ကောင်းမွန်စွာ) စွန့်ထားပါလေ။ [၃]

---

(၁) ဆိုလိုသည်ကား တမန်တော်မြတ်သည် ညဉ့်တွင်နိုးထ၍ အလ္လာဟ်အရှင်မြတ်အား တစ်စိတ်တစ်လက်တည်း လွတ်လပ်စွာ ဝတ်ပြုတော်မူရုံမျှမက နေ့အချိန်တွင်လည်း အဆက်အသွယ် အလုပ်အကိုင် များမြောင်လင့်ကစား၊ ယင်းသည့်စပ်ကြားမှာပင် စိတ်နှလုံးတွင်းမှမူ အားလုံးသော အဆက်အသွယ် အနှောင်အဖွဲ့များထက် အလ္လာဟ်အရှင်မြတ်နှင့် ထားရှိသော အဆက်အသွယ် အနှောင်အဖွဲ့သည် လွှမ်းမိုးလျက်သာပင်ရှိရပေမည်။ ဤသည်ကို သူတော်စင်များက "ဗေဟမဟ် ဝဗါဟမဟ်" "ခလ်ဝါသ် ဒရ်အန်ဂျုမန်" ဟုခေါ်ဝေါ် သုံးနှုန်းကြသည်။

(၂) တမန်တော်မြတ်အား မက္ကာမြို့သား ကာဖိရ်များက ပဥ္စလက်ဆရာ၊ အနာဂတ်ဟောဆရာ၊ သူရူး ...... စသည်ဖြင့် အမျိုးမျိုး ယိုးစွပ်ပြောဆိုခဲ့ကြ၏။ ယင်းသို့ ပြောဆိုခြင်းမှာ အဖြူကို အမည်း၊ နေ့ကို ညဉ့်ဟု ပြောဆိုခြင်းမျိုးသာဖြစ်သည်။ တမန်တော်မြတ်သည် ယင်းသို့ ယိုးစွပ်ပြောဆိုခြင်း ခံရတော်မူသည့်အတွက် စိတ်ပျက်တော်မမူရာ၊ သည်းခံ၍ နေတော်မူရမည်သာ။

(၃) တမန်တော်မြတ်သည် ယင်းသို့သော ကာဖိရ်များအား ကောင်းမွန်စွာ စွန့်ထားတော်မူရမည်။ ဆိုလိုသည်ကား တမန်တော်မြတ်သည် အပြင်၌ ၎င်းတို့နှင့် အဆက်အသွယ် ဖြတ်ထားတော်မူရမည်။ သို့ရာတွင် အတွင်း၌ ၎င်းတို့၏အခြေအနေကို အတိအကျသိရှိထားတော်မူရမည်။ ထို့ပြင် တမန်တော်မြတ်သည် ယင်းကာဖိရ်များ၏ ➢➢

وَذَرْنِي وَالْمُكَذِّبِينَ أُولِي النَّعْمَةِ وَمَهِّلْهُمْ قَلِيلًا ⑪

၁၁။ ငင်းပြင် အသင်သည် ငါအရှင်မြတ်အား လည်းကောင်း၊ မဟုတ်မမှန်ဟူ၍ စွပ်စွဲငြင်းပယ်ကြကုန်သော စည်းစိမ်ရှင်တို့အားလည်းကောင်း၊ လွှတ်ထားပါလေ။ ထို့ပြင် အသင်သည် ၎င်းတို့အား အနည်းငယ် ရွှေ့ဆိုင်း၍ ထားပါလေ။ [၁]

إِنَّ لَدَيْنَا أَنكَالًا وَجَحِيمًا ⑫

၁၂။ ဧကန်မလွဲ ငါအရှင်မြတ်အထံတော်၌ သံခြေချင်းများသည်လည်းကောင်း၊ "ဂျဟန္နမ်"ငရဲသည်လည်းကောင်း၊

وَطَعَامًا ذَا غُصَّةٍ وَعَذَابًا أَلِيمًا ⑬

၁၃။ လည်မျို၌ တစ်ဆို့၍နေအံ့သော အစားအစာသည်လည်းကောင်း၊ နာကျင်ဖွယ်ဖြစ်သော ပြစ်ဒဏ်သည်လည်းကောင်း၊ ရှိ၏။

يَوْمَ تَرْجُفُ الْأَرْضُ وَالْجِبَالُ وَكَانَتِ الْجِبَالُ كَثِيبًا مَّهِيلًا ⑭

၁၄။ အကြင်နေ့တွင် (ထိုနေ့တွင်) ကမ္ဘာမြေသည် လည်းကောင်း၊ တောင်များသည်လည်းကောင်း၊ တုန်လှုပ်သွားကြပေမည်။ ထိုမှတစ်ပါး တောင်များသည် ရွှေ့လျားလွင့်ပါးလျက်ရှိသော သဲသောင်များပင် ဖြစ်သွားကြပေမည်။

---

➤➤ ဆိုးရွားလှသည့် ဆက်ဆံမှုများနှင့်စပ်လျဉ်း၍ အချေအတင်၊ အတိုင်အချ ချေပတော်မူရန်လည်းမလို၊ တုံ့ပြန် လက်စားချေရန်လည်း မလို၊ တစ်ခွန်းတစ်ပါဒ ထုတ်ဖော်ပြောဆိုတော်မူရန်လည်း မလို။ အမြင်အားဖြင့် ၎င်းတို့နှင့်အဆက်ဖြတ်ထားတော်မူသော်လည်း၊ တမန်တော်မြတ်သည် အစွမ်းရှိသမျှ ၎င်းတို့အား တရားပြတော်မူရန် အခါခပ်သိမ်း ကြိုးစား၍ နေတော်မူရမည်။

ဆိုလိုသည်ကား ထိုရွှေ့ထိုမျှဆိုးသွမ်းသော ကာဖိရ်များကိုပင် စက်ဆုပ်တော်မမူရာ၊ မုန်းတီးတော်မမူရာ၊ ရွံရှာတော်မမူရာ၊ ၎င်းတို့၏ကောင်းစားရေးကို အခါခပ်သိမ်း လိုလားတော်မူရမည်သာ။

ဤအာယတ်တော်သည် မက္ကာမြို့တော်၌ ကျရောက်ခဲ့သော အာယတ်တော်ဖြစ်သည်။ ထိုအချိန်အထိ "ဂျိဟာဒ်" ပြုရန် အမိန့်တော် မကျရောက်သေးပေ။

① အချို့ပုဂ္ဂိုလ်များသည် လောကီစည်းစိမ်များတွင် နစ်မွန်း၍ အမှန်တရားကို ငြင်းပယ်နေကြသည်။ ယင်းသို့သော စည်းစိမ်ရှင်များ၏အရေးကို အလ္လာဟ်အရှင်မြတ်အား လွှဲအပ်ထားရမည်သာ၊ အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့အား ကြည့်စီရင်တော်မူမည်သာဖြစ်သည်။ ယခု ခေတ္တခဏ ၎င်းတို့အား လွှတ်ထားတော်မူခြင်းသာ ဖြစ်သည်။

إِنَّآ أَرْسَلْنَآ إِلَيْكُمْ رَسُولًا شَٰهِدًا عَلَيْكُمْ كَمَآ أَرْسَلْنَآ إِلَىٰ فِرْعَوْنَ رَسُولًا ﴿١٥﴾

၁၅။ ဧကန်စင်စစ်ငါအရှင်မြတ်သည် ဖစ်ရ်အောင်န်၏ထံသို့ ရစူလ်တမန်တော်တစ်ပါး စေလွှတ်တော်မူဘိ သကဲ့သို့ပင် အသင်တို့ထံသို့လည်း ရစူလ်တမန်တော် တစ်ပါးအား အသင်တို့အပေါ်၌ သက်သေအဖြစ် စေလွှတ်တော်မူ၏။ [၁]

فَعَصَىٰ فِرْعَوْنُ ٱلرَّسُولَ فَأَخَذْنَٰهُ أَخْذًا وَبِيلًا ﴿١٦﴾

၁၆။ ထိုအခါ ဖစ်ရ်အောင်န်သည် ထိုရစူလ်တမန်တော်မြတ်အား ဖီဆန်ခဲ့ရာ ငါအရှင်မြတ်သည် ၎င်းအား ပြင်းထန်စွာ ဖမ်းဆီးအရေးယူတော်မူခဲ့၏။ [၂]

فَكَيْفَ تَتَّقُونَ إِن كَفَرْتُمْ يَوْمًا يَجْعَلُ ٱلْوِلْدَٰنَ شِيبًا ﴿١٧﴾

၁၇။ သို့ဖြစ်ပေရာ အသင်တို့သည် အကြင်နေ့(၏ဘေးဒုက္ခ)မှ မည်ကဲ့သို့ ကင်းလွတ်ကြမည်နည်း။ ထိုနေ့သည် ကလေးသူငယ်တို့အား ဇရာအိုများအဖြစ်သို့ပင် ရောက်စေမည်။

ٱلسَّمَآءُ مُنفَطِرٌۢ بِهِۦ ۚ كَانَ وَعْدُهُۥ مَفْعُولًا ﴿١٨﴾

၁၈။ မိုးကောင်းကင်မှာလည်း ယင်းနေ့(၏ပြင်းထန်သောအဟုန်)ကြောင့် အက်ကွဲသွားပေမည်။ ထိုအရှင်မြတ်၏ ချိန်းဆိုချက်မှာကား ပြီးမြောက်အောင်ဆောင်ရွက်ပြီး ဖြစ်သည်သာတည်း။

إِنَّ هَٰذِهِۦ تَذْكِرَةٌ ۖ فَمَن شَآءَ ٱتَّخَذَ إِلَىٰ رَبِّهِۦ سَبِيلًا ﴿١٩﴾

၁၉။ ဧကန်မလွဲ ဤ(အာယတ်တော်များ)ကား ဆုံးမသြဝါဒ(များ)ပင်ဖြစ်၏။ သို့ဖြစ်ပေရာ အလိုရှိသောသူသည် ၎င်းအား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ် အထံတော်သို့ (သွားရာ)လမ်းကို ရွေးချယ်ရာ၏။ [၃]

---

(၁) ဆိုလိုသည်ကား အလ္လာဟ်အရှင်မြတ်သည် တမန်တော်မြတ် မူစာအား သီးသန့်ကျမ်းဂန်ချီးမြှင့်တော်မူသကဲ့သို့၊ တမန်တော်မြတ်အားလည်း သီးသန့် ကျမ်းဂန်ချီးမြှင့်၍ စေလွှတ်တော်မူခြင်းဖြစ်သည်။ တမန်တော်မြတ်သည် မိမိ၏သြဝါဒများကို မည်သူက လက်ခံသည်၊ မည်ဝါက ငြင်းဆန်သည်များကို အလ္လာဟ်အရှင်မြတ်ထံတော်၌ သက်သေ ထွက်ဆိုတော်မူပေမည်။

(၂) ဆိုလိုသည်ကား တမန်တော် မူစာ၏သြဝါဒကို သွေဖည်ငြင်းဆန်သောသူများအား အလ္လာဟ်အရှင်မြတ်သည် ပြင်းထန်စွာအရေးယူတော်မူခဲ့ပေရာ၊ တမန်တော်မြတ်၏ သြဝါဒကို သွေဖည်ငြင်းဆန်သူများအား အသို့လျှင် လျစ်လျူပြုထားတော်မူအံ့နည်း။

إِنَّ رَبَّكَ يَعْلَمُ أَنَّكَ تَقُومُ أَدْنَىٰ مِن ثُلُثَيِ اللَّيْلِ وَنِصْفَهُ وَثُلُثَهُ وَطَائِفَةٌ مِّنَ الَّذِينَ مَعَكَ ۚ وَاللَّهُ يُقَدِّرُ اللَّيْلَ وَالنَّهَارَ ۚ عَلِمَ أَن لَّن تُحْصُوهُ فَتَابَ عَلَيْكُمْ ۖ فَاقْرَءُوا مَا تَيَسَّرَ مِنَ الْقُرْآنِ ۚ عَلِمَ أَن سَيَكُونُ مِنكُم مَّرْضَىٰ ۙ وَآخَرُونَ يَضْرِبُونَ فِي الْأَرْضِ يَبْتَغُونَ مِن فَضْلِ اللَّهِ ۙ وَآخَرُونَ

၂၀။ (အို-နဗီတမန်တော်) ဧကန်မလွဲ အသင့်အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်မှာ အသင်သည်လည်းကောင်း၊ အသင်နှင့်အတူရှိကြသောသူတို့ အနက်မှ လူတစ်စုသည်လည်းကောင်း၊ ရံဖန်ရံခါ ညဥ့်၏ သုံးပုံနှစ်ပုံနီးခန့်၊ ရံဖန်ရံခါညဥ့်ဝက်၊ ရံဖန်ရံခါ ညဥ့်၏သုံးပုံတစ်ပုံ၊ ရပ်ကြသည်ကို သိရှိတော်မူ၏။ [၁] စင်စစ်သော်ကား အလ္လာဟ်အရှင်မြတ်သာလျှင် ညဥ့်ကိုလည်းကောင်း၊ နေ့ကိုလည်းကောင်း (တိကျစွာ) တိုင်းတာ သတ်မှတ်နိုင်တော်မူ၏။

ဧကန်စင်စစ် အသင်တို့သည် ယင်း(ညဥ့်အချိန်ကာလ အစိတ်အပိုင်း)ကို (ကျနသေချာစွာ) ရေတွက်မှတ်သား စောင့်စည်းနိုင်ကြမည် မဟုတ်ကြောင်း ထိုအရှင်မြတ်သည် သိရှိတော်မူ၏။ သို့ဖြစ်ပေရာ ထိုအရှင်မြတ်သည် အသင်တို့ဘက်သို့ ကရုဏာတော်နှင့်လှည့်တော်မူခဲ့၏။ သို့ဖြစ်သောကြောင့် အသင်တို့သည် ("ဆွလာတ်"အတွင်း၌) ကုရ်အာန်ကျမ်းတော်မြတ်မှ လွယ်ကူစွာ ရွတ်ဖတ်နိုင်သမျှကို ရွတ်ဖတ် သရဇ္ဈာယ်ကြလေကုန်။ [၂]

---

(၉) ကုရ်အာန်ကျမ်းမြတ်သည် အဆုံးအမသြဝါဒတော်ဖြစ်သည်။ မည်သူမဆို အလိုဆန္ဒရှိပါက အလ္လာဟ်အရှင်မြတ်ထံတော်သို့ သွားရာလမ်းကို ရွေးချယ်နိုင်သည်။ အလိုဆန္ဒမရှိပါက မရွေးချယ်ဘဲလည်း နေနိုင်ပေသည်။ ဤသည့်အာယတ်တော်ကို ထောက်ရှုခြင်းအားဖြင့် လူသားတို့၌ မိမိတို့ ကြိုက်နှစ်သက်ရာ လမ်းစဥ်တစ်ရပ်ရပ်ကို မိမိတို့ စေတနာအလျောက် လွတ်လပ်စွာရွေးချယ်ပြုလုပ်နိုင်သည့် အခွင့်အလမ်းရှိသည်မှာ ထင်ရှားပေသည်။
ကြည့်-မာဂျိဒီ။ အစောင်(၇)၊ စာမျက်နှာ(၁၁၅၃) အောက်ခြေအမှတ်(၁၄)။

(၁) ဤကဏ္ဍ၏အစတွင် "ညဥ့်ထ" ဆွလာတ်ဝတ်ပြုရန် အမိန့်တော်လာရှိ၏။ ထိုအမိန့်တော်သည် တစ်နှစ်နီးပါးခန့် အတည်ဖြစ်ရှိနေခဲ့၏။ ထို့နောက် အခြေအနေအရ ပထမအမိန့်တော်ကို ရပ်ဆိုင်း၍ ဤအာယတ်တော်တွင် လာရှိသည့်အတိုင်း ပြုပြင်၍ လျော့ပေါ့ မိန့်ကြားထားတော်မူသည်။

တမန်တော်မြတ်နှင့်တကွ အချို့(ဆွဟာဗဟ်) သာဝကကြီးများသည် "တဟဂျ်ဂျုဒ်" ညဥ့်ထ ဆွလာတ်ဝတ်ပြုရန် အမိန့်တော်ကို အတိအကျနာခံခဲ့ကြသည်။ တစ်ခါတစ်ရံ ညဥ့်ဝက်၊ တစ်ခါတစ်ရံ ညဥ့်၏ ၃-ပုံ ၁-ပုံ၊ တစ်ခါတစ်ရံ ညဥ့်၏ ၃-ပုံ ၂-ပုံ နီးနီး နိုးသကာ အလ္လာဟ်အရှင်မြတ်အား ➤➤

يُقَاتِلُونَ فِي سَبِيلِ اللَّهِ فَاقْرَءُوا مَا تَيَسَّرَ مِنْهُ وَأَقِيمُوا الصَّلَوٰةَ وَآتُوا الزَّكَوٰةَ وَأَقْرِضُوا اللَّهَ قَرْضًا حَسَنًا

အသင်တို့အနက် အချို့မှာ ရောဂါဝေဒနာ စွဲကပ်သူများဖြစ်ကြမည်ဖြစ်ကြောင်းကိုလည်းကောင်း၊ အခြားသူတို့မှာ အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော် တည်းဟူသော စားနပ်ရိက္ခာကိုရှာဖွေရန် တိုင်းပြည်တွင် ခရီးသွားလာကြမည်ဖြစ်ကြောင်းကိုလည်းကောင်း၊ အခြားသူတို့မှာ အလ္လာဟ်အရှင်မြတ်၏လမ်းတော်၌ စစ်မက်ပြိုင်ဆိုင် တိုက်ခိုက်ကြမည်ဖြစ်ကြောင်းကို လည်းကောင်း၊ သိရှိတော်မူ၏။

---

➤➤ ဝတ်ပြုခဲ့ကြသည်။ ဤသည်ကို အလ္လာဟ်အရှင်မြတ် အသိပင်။ ယင်းသို့ ဆွလာတ်ဝတ်ပြုခဲ့ကြသည့်အတွက် အချို့သာဝကကြီးများ၏ ခြေများသည် ရောင်လာခဲ့၏။ ကွဲအက်လာခဲ့၏။ အချို့သာဝကများသည် အိပ်ပျော် မသွားရန်အတွက် မိမိတို့၏ ဆံပင်များကို ကြိုးများဖြင့် တုပ်၍ပင် ထားခဲ့လေ့ရှိကြသည်။ ဆွဟာဗဟ် သာဝကကြီးများသည် ဤရွေ့ဤမျှ အမိန့်တော်ကို နာခံခဲ့ကြပေသည်။ ဤသည် ဆွဟာဗဟ် သာဝကကြီးများအဖို့ ဂုဏ်ယူဖွယ်ပင်။

(၂) ဆိုလိုသည်ကား အလ္လာဟ်အရှင်မြတ်သည်ပင် နေ့နှင့်ညဥ့်ကို စနစ်တကျ အတိုင်းအတာနှင့် ပြုပြင် စီရင်ထားတော်မူသည်၊ တစ်ခါတစ်ရံ ညဥ့်တာ တိုစေ၍ နေ့တာကို ရှည်စေတော်မူသည်။ တစ်ခါတစ်ရံ ညဥ့်တာရှည်စေ၍ နေ့တာကို တိုစေတော်မူသည်။ တစ်ခါတစ်ရံ နေ့တာနှင့် ညဥ့်တာကို အတူတူ အညီအမျှ ဖြစ်စေတော်မူသည်။ အလ္လာဟ်အရှင်မြတ်သည်သာလျှင် နေ့နှင့်ညဥ့်၏ အတိုင်းအတာကို အတိအကျ သိရှိတော်မူသည်။ လူသားတို့သည် အိပ်စက်ချိန်တွင် နေ့စဥ်နှင့်အမျှ ညဥ့်၏ ထက်ဝက်၊ ၃-ပုံ ၁-ပုံ၊ ၃-ပုံ ၂-ပုံကို အတိအကျ မှတ်သားထားနိုင်ကြသည်မရှိပေ။ အထူးသဖြင့် အချိန်၊ နာရီစသည်များကို ညွှန်ပြသည့် ကိရိယာတန်ဆာပလာများ မထွန်းကားသေးသည့်ခေတ်မျိုးတွင်၊ ယင်းသည့်အချိန်ပိုင်းများကို မှတ်သားထားရန် ကိစ္စမှာ မလွယ်ကူလှပေ။ ထို့အတွက်ကြောင့်ပင် အချို့(ဆွဟာဗဟ်)သာဝကကြီးများသည် အိပ်ပျော်သွားပါက၊ အိပ်မောကျသွားပါက၊ ညဥ့် ၃-ပုံ ၁-ပုံမျှပင် နိုးထ ဆွလာတ်ဝတ်မပြုနိုင်မည်ကို စိုးရိမ်သဖြင့် တစ်ညဥ့်လုံးပင် မအိပ်ဘဲ နိုးထ၍နေခဲ့ကြပေသည်။

ထိုအခါ အလ္လာဟ်အရှင်မြတ်က မိမိ၏ကျေးဇူးတော်ဖြင့် အသင်တို့သည် ညဥ့်အချိန် နိုးထ ဆွလာတ်ဝတ်ပြုမှုကို စနစ်တကျအမြဲတစေ ထိန်းသိမ်းနိုင်ကြမည်မဟုတ်၊ ထို့အတွက် ညဥ့်အချိန် နိုးထနိုင်သော ပုဂ္ဂိုလ်များသည် မိမိတို့ ဆွလာတ်ဝတ်ပြုနိုင်သမျှ ဝတ်ပြုနိုင်ကြပေသည်။ ဆွလာတ်ဝတ်ပြုရာတွင် အလျှင်းသင့်သမျှ ကုရ်အာန်ကျမ်းမြတ်ကို ရွတ်ဖတ်နိုင်ကြပေသည်ဟု မိန့်ကြားတော်မူ၍ ညဥ့်အချိန် နိုးထ ဆွလာတ်ဝတ်ပြုရန် အမိန့်တော်ကို လျှော့၍ ပေးတော်မူခဲ့လေသည်။ သို့ဖြစ်ရာ ယခုမူ "တဟဂျ်ဂျုဒ်" ညဥ့်အချိန် နိုးထ ဆွလာတ် ဝတ်ပြုမှုသည် (ဖရည်ွ) မလုပ်မနေရတာဝန် မဟုတ်တော့ပေ။ အချိန်၏ ကန့်သတ်ချက်လည်း မရှိတော့ပေ။ ကုရ်အာန်ကျမ်းမြတ်ကို မည်ရွေ့မည်မျှ ရွတ်ဖတ်ရမည်ဟူသော စည်းကမ်းချက်လည်း မရှိတော့ပေ။

وَمَا تُقَدِّمُوا لِأَنفُسِكُم مِّنْ خَيْرٍ تَجِدُوهُ عِندَ اللَّهِ هُوَ خَيْرًا وَأَعْظَمَ أَجْرًا ۚ وَاسْتَغْفِرُوا اللَّهَ ۖ إِنَّ اللَّهَ غَفُورٌ رَّحِيمٌ ﴿٢٠﴾

သို့ဖြစ်ပေရာ အသင်တို့သည် (ဆွလာတ် ဝတ်ပြုရာတွင်) ယင်းကုရ်အာန်ကျမ်းတော်မြတ်မှ လွယ်ကူစွာ ရွတ်ဖတ်နိုင်သမျှကို ရွတ်ဖတ်သရဇ္ဈာယ် ကြလေကုန်။ ၎င်းပြင် အသင်တို့သည် ဆွလာတ် ဝတ်ပြုမှုကို (စွဲမြဲစွာ) ဆောက်တည်ကြလေကုန်။ ထို့ပြင် ဇကာတ် ပေးဆပ်ကြလေကုန်။ ထိုမှတစ်ပါး အသင် တို့သည် အလ္လာဟ်အရှင်မြတ်အား ကောင်းမြတ်သော (စေတနာ)နှင့် ကြွေးမြီ ချေးငှားကြလေကုန်။

စင်စစ်သော်ကား အသင်တို့သည် မည်သည့် ကောင်းမှုကိုမဆို မိမိတို့အကျိုးငှာ တင်ကြို ပို့နှင့် ကြပါလျှင် ယင်းသည့်ကောင်းမှုကို အလ္လာဟ်အရှင် မြတ်အထံတော်၌ သာ၍ မွန်မြတ်သည်ကိုလည်း ကောင်း၊ ကုသိုလ်အကျိုးအားဖြင့် ပို၍ကြီးကျယ် သည်ကိုလည်းကောင်း၊ အသင်တို့ တွေ့ရှိကြရပေမည်။ ထိုမှတစ်ပါး အသင်တို့သည် အလ္လာဟ်အရှင်မြတ် အထံတော်၌ လွတ်ငြိမ်းချမ်းသာခွင့်ကို အသနားခံကြ လေကုန်၊ [1] ဧကန်မလွဲ အလ္လာဟ်အရှင်မြတ်မှာမူကား အလွန်တရာ လွတ်ငြိမ်းချမ်းသာခွင့် ပေးသနားတော် မူသောအရှင်၊ အလွန်တရာ ကြင်နာသနားတော်မူသော အရှင်၊ ဖြစ်တော်မူပေသတည်း။

---

(၁) ဆိုလိုသည်ကား အသင်တို့သည် အမိန့်တော်များ လိုက်နာကျင့်သုံးပြီး နောက်ပိုင်းတွင်သော်မှပင် အလ္လာဟ်အရှင်မြတ်ထံတော်၌ လွတ်ငြိမ်းခွင့် ပန်ကြားကြရပေမည်။ အဘယ်ကြောင့်ဆိုသော် အမိန့်တော်ကို သတိဝီရိယကြီးစွာနှင့် လိုက်နာကျင့်သုံးသူတစ်ဦး၌ပင်လျှင် ချွတ်ယွင်းမှု၊ ပျက်ကွက်မှု၊ ချို့တဲ့မှုသည် အနည်းနှင့်အများ ရှိသည်သာဖြစ်သည်။ "ကျွန်ုပ်သည် အလ္လာဟ်အရှင်မြတ်အား ခဝပ်ကိုးကွယ်ရန် တာဝန်ကို တိကျမှန်ကန်စွာ ထမ်းဆောင်ပြီးပြီ"ဟု အသူဆိုဝံ့အံ့နည်း။ လူသားတို့တွင် တမန်တော်များသည် အထွက်အထိပ် ဖြစ်ကြပေသည်။ ယင်းသည့် တမန်တော်များသည်ပင်လျှင် အလ္လာဟ်အရှင်မြတ်၏ထံတော်၌ လွတ်ငြိမ်းခွင့် ပန်ကြားခဲ့ကြသည်ဖြစ်ရာ၊ ကျွန်ုပ်တို့သည် ပို၍ပင် လွတ်ငြိမ်းခွင့် ပန်ကြားရမည် မဟုတ်ပါလော။ (အို- အလ္လာဟ်အရှင်မြတ်၊ အရှင်မြတ်သည် မိမိ၏ကျေးဇူးတော်ဖြင့် ကျွန်တော်မျိုး၏ ချွတ်ယွင်းမှု၊ ချို့တဲ့မှုအပေါင်းကို လွတ်ငြိမ်းခွင့် ပေးသနားတော်မူပါ။)

# စောင်ခြုံသူကဏ္ဍ

سُورَةُ المُدَّثِّر

ဤကဏ္ဍသည်“မွဒ္ဒဆ်ဆိရ်” “စောင်ခြုံသူ”ကဏ္ဍမည်၏။ မက္ကာမြို့တော်၌ ကျရောက်ခဲ့၏။
ဤကဏ္ဍတွင်အာယတ်တော်(၅၆)ပါး၊ ရုကူအ်(၂)ပိုဒ်အသီးသီးပါရှိ၏။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ

အလွန်တရာ ကြင်နာသနားတော်မူသော၊
ကရုဏာတော်ရှင်ဖြစ်တော်မူသော၊
အလ္လာဟ်အရှင်မြတ်၏နာမံတော်ဖြင့် အစပြုပါ၏။

يٰٓاَيُّهَا الْمُدَّثِّرُ ۝١

၁။ အို-စောင်ခြုံထားသူ။ [၁]

قُمْ فَاَنْذِرْ ۝٢

၂။ အသင်သည် ထပြီးလျှင် (ကာဖိရ် သွေဖည်ငြင်းပယ်သောသူတို့အား) သတိပေးနှိုးဆော်ပါလေ၊ [၂]

وَرَبَّكَ فَكَبِّرْ ۝٣

၃။ ၎င်းပြင် အသင်သည် အသင့်အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ် ကြီးကဲမြင့်မြတ်တော်မူကြောင်း ချီးကျူးမြွက်ဆိုပါလေ။ [၃]

وَثِيَابَكَ فَطَهِّرْ ۝٤

၄။ ၎င်းပြင် အသင်သည် မိမိအဝတ်များကို (အညစ်အကြေးတို့မှ)စင်ကြယ်သန့်ရှင်းစေပါလေ၊ [၄]

---

(၁) ဤအကြောင်းနှင့်စပ်လျဉ်း၍ ယခင်ကဏ္ဍ ပထမ အာယတ်တော်၏အဖွင့်ကို ပြန်လည်ရှုပါကုန်။

(၂) တမန်တော်မြတ်သည် “ဝဟီ” အမိန့်တော်ကျရောက်ခြင်း၏ လေးလံမှုနှင့် ကောင်းကင်တမန်၏ ကြောက်ရွံ့ဖွယ်ရာ ပုံပန်းသဏ္ဍာန်တို့ကြောင့် စိုးရိမ်တော်မူရန်မလို။တမန်တော်မြတ်၏ အဓိကတာဝန်မှာ မိမိ၏ သုခချမ်းသာမှုအစုစုတို့ကို စွန့်လွှတ်၍၊ သူတစ်ပါးတို့ကို အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ရိုသေခန့်ညား စေခြင်းနှင့် သွေဖည်ဆန့်ကျင်မှု၏ ဆိုးရွားလှသည့် အကျိုးဆက်များကို ညွှန်ပြသတိပေးခြင်းပင်ဖြစ်သည်။

(၃) လူသားတို့သည် အလ္လာဟ်အရှင်မြတ်၏တန်ခိုးတော်၊ ဂုဏ်တော်များကို ကြားနာသိရှိကြမှသာလျှင် ထိုအရှင်မြတ်အား ကြောက်ရွံ့ရိုသေခန့်ညား လာကြပေမည်။ ထို့အတွက်ကြောင့် တမန်တော်မြတ်သည် ဆွလာတ် ဝတ်ပြုရာတွင် လည်းကောင်း၊ ဆွလာတ်အပြင်တွင် လည်းကောင်း၊ အလ္လာဟ်အရှင်မြတ်၏ တန်ခိုးတော် ဂုဏ်တော်များနှင့် အတိုင်းမသိ ကြီးကဲမြင့်မြတ်တော်မူသည့် အကြောင်းများကို ထုတ်ဖော်ဖွင့်ဟ ပြောပြတော်မူရပေမည်။

(၄) ဤကဏ္ဍကျရောက်လာသည့်အခါ လူသားတို့အား အလ္လာဟ်အရှင်မြတ်ဘက်တော်သို့ ဖိတ်ခေါ်ရန် တမန်တော်မြတ်၌ တာဝန်ဖြစ်ရှိလာခဲ့၏။ ထို့နောက်၊ ဆွလာတ် စသည့်သာသနာ့တာဝန်များနှင့် စပ်လျဉ်း၍➢➢

| | |
|---|---|
| ၅။ ထို့ပြင် အသင်သည် ရုပ်တုများမှ လွတ်ကင်းစွာနေပါလေ။ | وَالرُّجْزَ فَاهْجُرْ ۝٥ |
| ၆။ ထို့ပြင် အသင်သည် (တစ်စုံတစ်ဦးအား) ပိုမိုရလိုသောအားဖြင့် (တစ်စုံတစ်ရာ)ပေးကမ်းခြင်း ကို မပြုပါလေနှင့်။ | وَلَا تَمْنُن تَسْتَكْثِرُ ۝٦ |
| ၇။ ထိုမှတစ်ပါး အသင်သည် အသင့်အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ် (ကျေနပ်မှု)ကို ရည်စူး၍ သည်းခံခြင်း တရားထားရှိပါလေ။ | وَلِرَبِّكَ فَاصْبِرْ ۝٧ |
| ၈။ စင်စစ်သော်ကား တံပိုးခရာ မှုတ်သော အခါဝယ် | فَإِذَا نُقِرَ فِي النَّاقُورِ ۝٨ |
| ၉။ ယင်းနေ့မှာ လွန်စွာ ခက်ခဲပြင်းထန်သော နေ့ပင် ဖြစ်ချိမ့်မည်။ | فَذَٰلِكَ يَوْمَئِذٍ يَوْمٌ عَسِيرٌ ۝٩ |
| ၁၀။ ကာဖိရ် သွေဖည်ငြင်းပယ်သော သူတို့အဖို့ လွယ်ကူခြင်းမရှိသော။ | عَلَى الْكَافِرِينَ غَيْرُ يَسِيرٍ ۝١٠ |

➤➤ အမိန့်တော်ကျရောက်လာခဲ့၏။

ဆွလာတ်ဝတ်ပြုရာတွင် အဝတ်အစား သန့်ရှင်းရမည်ဖြစ်သည်။ အညစ်အကြေးများနှင့် ကင်းစင်ရမည် ဖြစ်သည်။ ဤသည့်အကြောင်းကိုပင် ဤအာယတ်တော်တွင် မိန့်ဆိုထားတော်မူသည်။ ဆွလာတ်ဝတ်ပြုရာတွင် အဝတ်အစားများပင် သန့်ရှင်းရမည်ဖြစ်ရာ၊ ကိုယ်ခန္ဓာ၏ သန့်ရှင်းမှုသည် ပို၍ပင် အရေးကြီးမည်မဟုတ်ပါလော။ ထို့အတွက်ကြောင့် ဤအာယတ်တော်တွင် ကိုယ်ခန္ဓာ သန့်ရှင်းရမည့်အကြောင်း အထူးတလည် ထုတ်ဖော် မိန့်ဆိုထားတော်မူရန်ပင် မလိုပေ။

အချို့ မုဖတ်စ်စီရ်ပညာရှင်များက ဤအာယတ်တော်တွင် အဝတ်အစား သန့်ရှင်းမှုဟူသည် မိမိကိုယ်ကို ဆိုးသွမ်းညစ်ညမ်းသော အကျင့်အမူများနှင့် ကင်းရှင်းစွာထားရှိမှုကို ဆိုလိုသည် ဟူ၍လည်းကောင်း၊ အညစ်အကြေး များမှ ကင်းစင်မှုဟူသည် ရုပ်တုများနှင့် ကင်းစင်မှုကို ဆိုလိုသည်ဟူ၍လည်းကောင်း၊ အနက်ဖွင့်ကြသည်။ အသို့ရှိစေ အချုပ်ဆိုရသော် ဤအာယတ်တော်အရ ရုပ်၊ နာမ်၊ အတွင်း၊ အပြင် အားလုံး သန့်ရှင်းရမည်ဖြစ်သည်။ အဘယ်ကြောင့်ဆိုသော် ယင်းသို့ အဘက်ဘက်တွင် မသန့်ရှင်းသမျှ ကာလပတ်လုံး အလ္လာဟ်အရှင်မြတ်၏ ကြီးကဲမြင့်မြတ်မှုသည် စိတ်နှလုံးသားတွင် ကောင်းမွန်စွာ ဆွဲထင်နိုင်မည်မဟုတ်ပေ။

ذَرۡنِي وَمَنۡ خَلَقۡتُ وَحِيدًا ﴿١١﴾

၁၁။ (အို-နဗီတမန်တော်) အသင်သည် ငါအရှင်မြတ်အားလည်းကောင်း၊ အကြင်သူအားလည်းကောင်း၊ လွှတ်ထားပါလေ။ ငါအရှင်မြတ်သည် ၎င်းအား တစ်ဦးတည်း ဖန်ဆင်းတော်မူခဲ့၏။

وَجَعَلۡتُ لَهُۥ مَالٗا مَّمۡدُودٗا ﴿١٢﴾

၁၂။ ထို့ပြင် ငါအရှင်မြတ်သည် ထိုသူအား မြောက်မြားစွာသော ပစ္စည်းဥစ္စာကိုလည်းကောင်း၊

وَبَنِينَ شُهُودٗا ﴿١٣﴾

၁၃။ ရှေ့မှောက်၌ (အမြဲ)အဆင်သင့်ရှိနေကြသော ယောကျ်ားများကိုလည်းကောင်း၊ ပေးသနားတော်မူခဲ့၏။

وَمَهَّدتُّ لَهُۥ تَمۡهِيدٗا ﴿١٤﴾

၁၄။ ထိုမှတစ်ပါး ငါအရှင်မြတ်သည် ၎င်း၌(စည်းစိမ်ချမ်းသာအမျိုးမျိုးတို့ကို) အဆင်သင့် ပြုလုပ်၍ ပေးတော်မူခြင်းအားဖြင့် အဆင်ပြေစေတော်မူခဲ့၏။

ثُمَّ يَطۡمَعُ أَنۡ أَزِيدَ ﴿١٥﴾

၁၅။ သို့ပါလျက် ငါအရှင်မြတ်သည် ၎င်းအား ပိုမို၍ ပေးတော်မူရန် ၎င်းသည် လောဘရမ္မက် ထားရှိ၏။

كَلَّآۖ إِنَّهُۥ كَانَ لِأٓيَٰتِنَا عَنِيدٗا ﴿١٦﴾

၁၆။ (၎င်းမှာ ပိုမိုချီးမြှင့်တော်မူခြင်းကို) အလျှင်း (ခံရမည်) မဟုတ်ပေ။ ① ကေန်မလွဲ ၎င်းမှာ ငါအရှင်မြတ်၏အာယတ်တော်၊ သက်သေလက္ခဏာတော်များကို ဆန့်ကျင်သူဖြစ်၏။

① လူသားသည် အမိဝမ်းတွင်းမှ တစ်ဦးတည်း မွေးဖွားလာခဲ့သည်ချည်းသာ ဖြစ်သည်၊ မွေးဖွားလာချိန်တွင် မိမိနှင့်အတူ ဥစ္စာပစ္စည်း၊ သားသမီး၊ ခြွေရံသင်းပင်း တစ်စုံတစ်ရာ ယူဆောင်လာခဲ့သည်ဟူ၍ မရှိ၊ ဆိုလိုသည်ကား ဤအာယတ်တော်တွင် ပါရှိသော "တစ်ဦးတည်း" ဟူသည် လူသားတိုင်းကိုလည်း ဆိုလိုနိုင်သည်။ သို့တည်းမဟုတ် နာမည်ကြီး အရဗ်ခေါင်းဆောင်တစ်ဦးဖြစ်ခဲ့သော ဝလီဒ်ဗ်နမုဃီရဟ်ကိုလည်း ဆိုလိုနိုင်သည်။

အဘယ်ကြောင့်ဆိုသော် ၎င်းသည် မိမိဖခင်၏တစ်ဦးတည်းသောသား ဖြစ်ခဲ့၏။ လောကီဆိုင်ရာ ဥစ္စာပစ္စည်း၊ ခြွေရံသင်းပင်း၊ ဩဇာအာဏာအားဖြင့်လည်း တစ်ဦးတည်းဖြစ်ခဲ့၏။ ၎င်း၌ အားထားရာ သားယောကျ်ား(၁၀)ယောက်တိတိ ရှိခဲ့ကြ၏။ အမြဲတစေ ဖခင်၏ရှေ့မှောက်တွင် အသင့်ရှိနေခဲ့ကြ၏။ ကုန်သန်းရောင်းဝယ်ရန်နှင့် အခြားလုပ်ငန်းများအတွက် အခိုင်းအစေ အမြောက်အမြားလည်းရှိခဲ့ကြ၏။ အချုပ်ဆိုရသော် ၎င်း၌ လောကီဆိုင်ရာ ဥစ္စာဓနေ၊ အခြွေအရံ၊ ဩဇာအာဏာ အားလုံးပြည့်စုံခဲ့၏။ ထို့အတွက်ကြောင့်ပင် ➤➤

سَأُرْهِقُهُ صَعُودًا ﴿١٧﴾

၁၇။ မကြာမြင့်မီပင် ငါအရှင်မြတ်သည် ၎င်းအား (ဂျဟန္နမ်ငရဲ၏) တောင်ပေါ်သို့ အနိုင်အထက်ပြု၍ တက်စေတော်မူမည်။

إِنَّهُ فَكَّرَ وَقَدَّرَ ﴿١٨﴾

၁၈။ ဧကန်စင်စစ် ၎င်းသည် ကြံစည်၍ (ယင်း အကြံအစည်ကို) ဆုံးဖြတ်ခဲ့၏။

فَقُتِلَ كَيْفَ قَدَّرَ ﴿١٩﴾

၁၉။ သို့ဖြစ်ပေရာ ၎င်းသည် ပျက်စီးစေသား၊ ၎င်းသည် (အဘယ်ကဲ့သို့)သော အကြံအစည်ကို ဆုံးဖြတ်ခဲ့ဘိသနည်း။

ثُمَّ قُتِلَ كَيْفَ قَدَّرَ ﴿٢٠﴾

၂၀။ ထိုသူသည် ထို့နောက်တစ်ဖန် ထပ်မံ၍ ပျက်စီးစေသား၊ ၎င်းသည် မည်ကဲ့သို့(သော အကြံ အစည်ကို) ဆုံးဖြတ်ခဲ့ဘိသနည်း။

ثُمَّ نَظَرَ ﴿٢١﴾

၂၁။ ထို့နောက် ၎င်းသည် (မိမိအမျိုးသားတို့၏ မျက်နှာများကို)ကြည့်ရှုခဲ့လေ၏။ (ကုရ်အာန်ကျမ်းလာ အာယတ်တော်များနှင့်စပ်လျဉ်း၍) စဉ်းစားခဲ့လေ၏။

---

➤➤ ကုရိုက်ရှ်မျိုးနွယ်ဝင်များသည် ပြဿနာပေါ်သည့်အခါ ၎င်းအား မှီခိုအားထားလေ့ ရှိကြ၏။ ဖြေရှင်းရန် အရေးကိစ္စပေါ်က ၎င်းအားပင် ခုံသမာဓိ တင်မြှောက်လေ့ရှိခဲ့ကြ၏။

အလ္လာဟ်အရှင်မြတ်သည် ဝလီဒ်ဣဗ်နုမုဃီရဟ်အား ယင်းကဲ့သို့ အမျိုးမျိုး ချီးမြှင့်မြှောက်စားတော်မူခဲ့သော်လည်း ဝလီဒ်သည် ကျေးဇူးမသိတတ်ခဲ့ပေ။ ကျေးဇူးမသိတတ်ခဲ့သည်သာမက ဝလီဒ်သည် အမြဲတစေ ရုပ်တုကိုးကွယ်မှုတွင် နစ်မွန်း၍နေခဲ့၏။ ဥစ္စာဓနကိုလုံကြွယ်ဝပါလျက်၊ ကြွယ်ဝသည်ထက် ပို၍ကြွယ်ဝနိုင်ရန် လောဘကြီးစွာဖြင့် ဥစ္စာပစ္စည်းကို ရှာဖွေနေခဲ့၏။ တစ်ခါတစ်ရံ တမန်တော်မြတ်သည် ၎င်း၏ရှေ့တွင် ဂျန္နတ်၏ အမတသုခများအကြောင်း ပြောပြတော်မူသည့်အခါ ၎င်းက "အကယ်၍ ဤပုဂ္ဂိုလ်(တမန်တော်မြတ်) ပြောကြားသည့်အတိုင်း မှန်ကန်ပါလျှင် ဂျန္နတ်၏ အမတသုခများကိုလည်း ကျွန်ုပ် မုချရရှိမည်ဖြစ်သည်" ဟူ၍ ပြောဆိုလေ့ရှိခဲ့၏။ ဝလီဒ် မျှော်မှန်းချက်သည် အသို့လျှင် အကောင်အထည် ပေါ်နိုင်အံ့နည်း၊ အလျှင်းမဖြစ်နိုင်၊ အလ္လာဟ်အရှင်မြတ်အား အကြီးအကျယ် ကျေးဇူးကန်းနေသူတစ်ဦးက ထိုအရှင်မြတ်၏ အမတသုခများကို မျှော်မှန်းနေခြင်းမှာ စိတ်ကူးယဉ်အိပ်မက်မက်ခြင်းသာ ဖြစ်ပေမည်။

ဤအာယတ်တော်များ ကျရောက်လာပြီးနောက် ဝလီဒ်၏ ဥစ္စာပစ္စည်းများသည် တစ်နေ့တစ်ခြား ပျက်ပြားဆုံးပါးလာခဲ့၏၊ နောက်ဆုံးတွင် ဝလီဒ်သည် ပစ္စည်းမဲ့ ဆင်းရဲသားတစ်ဦးဖြစ်ကာ၊ သေးသိမ်စွာ သေဆုံးသွားခဲ့လေသည်။ ဤကား ကျေးဇူးကန်းမှု၏ အကျိုးပင်။

ثُمَّ عَبَسَ وَبَسَرَ ۝٢٢

၂၂။ ထို့နောက် ၎င်းသည် မျက်နှာရှုံ့ခဲ့၏။ တစ်ဖန် ထပ်မံ၍ပင် ရှုံ့မဲ့ခဲ့၏။

ثُمَّ أَدْبَرَ وَاسْتَكْبَرَ ۝٢٣

၂၃။ ထို့နောက် ၎င်းသည် ကျောခိုင်းခဲ့၏။ မာန်မာန ထောင်လွှားခဲ့၏။

فَقَالَ إِنْ هَٰذَا إِلَّا سِحْرٌ يُؤْثَرُ ۝٢٤

၂၄။ ထို့နောက် ၎င်းက ဤ(ကုရ်အာန်ကျမ်းတော်မြတ်)သည် ရှေးအဆက်ဆက်က အဆင့်ဆင့် ရောက်ရှိသော စုန်းအတတ်၊ ဂါထာမန္တရားမှတစ်ပါး အခြားမဟုတ်ဟူ၍ လည်းကောင်း၊

إِنْ هَٰذَا إِلَّا قَوْلُ الْبَشَرِ ۝٢٥

၂၅။ ဤသည် လူသား၏ ပြောဆိုချက်မှတစ်ပါး အခြားမဟုတ်ဟူ၍လည်းကောင်း၊ ပြောဆိုခဲ့လေ၏၊ [၁]

سَأُصْلِيهِ سَقَرَ ۝٢٦

၂၆။ မကြာမြင့်မီပင် ငါအရှင်မြတ်သည် ၎င်းအား "စကရ်"(မည်သော)ငရဲသို့ ဝင်ရောက်စေတော်မူပေမည်။

---

(၁) တစ်ခါသော် ဝလီဒ်ဗ္ဗင်နမုဃီရဟ်သည် တမန်တော်မြတ်ထံတော်သို့ ရောက်ရှိလာခဲ့၏။ တမန်တော်မြတ်သည် ၎င်းအား ကုရ်အာန်ကျမ်းလာ အာယတ်တော်များကို ရွတ်ဖတ်ပြတော်မူခဲ့၏။ ဝလီဒ်သည် အာယတ်တော်များကို ကြားနာပြီး အတော်ပင်နှလုံးတွေ့ခဲ့၏။ ပီတိဖြစ်ခဲ့၏၊ သို့တစေလည်း အဗူဂျဟ်လ်သည် ၎င်းအား သွေးဆောင်ဖြားယောင်းထားရန် ကြိုးစား၏။ ကုရိုက်ရှ်မျိုးနွယ်တွင် "အကယ်၍ ဝလီဒ်သည် မွတ်စ်လင်မ်ဖြစ်သွားပါက ဆုံးရှုံးမှုကြီးတစ်ရပ် ဖြစ်ရတော့မည်" ဟူသော သတင်းသည် အတော်ပင်ပြန့်ပွားနေခဲ့၏။ နောက်ဆုံးတွင် ကုရိုက်ရှ်မျိုးနွယ်ဝင်များသည် စုဝေး၍ တမန်တော်မြတ်နှင့်ပတ်သက်ပြီး ဆွေးနွေးတိုင်ပင်ကြ၏။ အချို့က လက်ာဆရာဟု ဆိုကြ၏။အချို့က အနာဂတ်ဟောဆရာဟု ဆိုကြ၏။ ဝလီဒ်က- ကျွန်ုပ်သည် လင်္ကာအရာတွင် ပါရဂူဖြစ်သည်။ အနာဂတ်ဟောဆရာများ၏စကားများကိုလည်း ကြားဖူးသည်။ ကုရ်အာန်သည် လင်္ကာလည်း မဟုတ်၊ အနာဂတ်ဟောကြားချက်လည်း မဟုတ်ဟု ပြောပြ၏။

ထိုအခါ လူများက အသင်သည် မည်သို့ထင်မြင်ပါသနည်းဟု မေးကြရာ၊ ဝလီဒ်က အနည်းငယ်စဉ်းစားပြီး မျက်နှာထားပြောင်းကာ အမူအရာဟန်ပါပါနှင့် "ဤသည် ဗာဗိလိုမြို့သူမြို့သားများထံမှ အဆင့်ဆင့် ရောက်ရှိလာခဲ့သော ဂါထာမန္တရားမျှသာဖြစ်သည်" ဟု ပြောဆိုလိုက်လေသည်။ ဝလီဒ်သည် မိမိ၏သားချင်းများအား ဝမ်းသာစေရန် ယခုကဲ့သို့ပြောဆိုသော်လည်း၊ မကြာမီအတွင်းပင် ယင်း ဝလီဒ်ကိုယ်တိုင်က ကုရ်အာန်ကျမ်းလာ အာယတ်တော်များကို ကြားနာပြီး "ဤသည် ဂါထာမန္တရားလည်းမဟုတ်၊ အရှုးစကားလည်းမဟုတ်၊ အလ္လာဟ်အရှင်မြတ်၏ အာယတ်တော်ဖြစ်သည်" ဟူ၍ အတိအလင်း ဝန်ခံပြောကြားခဲ့ပြီး ဖြစ်သည်။ ဤသည့်ဖြစ်ရပ်ကိုပင် ဤအာယတ်တော်တွင် ရည်ညွှန်းထားတော်မူသည်။

وَمَآ أَدْرَىٰكَ مَا سَقَرُ ﴿٢٧﴾ لَا تُبْقِى وَلَا تَذَرُ ﴿٢٨﴾

၂၇။ စင်စစ် (အို-နဗီတမန်တော်) "စကရ်" ငရဲသည် အဘယ်နည်း၊ အသင် သိပါသလော။

၂၈။ ယင်း"စကရ်" ငရဲသည် (မည်သည့် ကာဖိရ် တစ်ဦးတစ်ယောက်ကိုမျှ လောင်ကျွမ်းစေခြင်းမပြုဘဲ) ကျွင်းကျန်စေမည်လည်း မဟုတ်ပေ၊ (မည်သည့် ကာဖိရ် တစ်ဦးတစ်ယောက်ကိုမျှပင် မိမိအတွင်းသို့ သိမ်းသွင်းခြင်း မပြုဘဲ) စွန့်လွှတ်၍ထားရှိမည်လည်း မဟုတ်ပေ။

لَوَّاحَةٌ لِّلْبَشَرِ ﴿٢٩﴾

၂၉။ (ယင်း "စကရ်"ငရဲသည်) လူသား၏အရေကို အခြေအနေ ပြောင်းလဲအံ့သော၊ ကျွမ်းလောင်ပျက်စီးစေအံ့သော၊ ခွာပစ်အံ့သော၊ အရာဖြစ်၏။

عَلَيْهَا تِسْعَةَ عَشَرَ ﴿٣٠﴾

၃၀။ ယင်း"စကရ်"ငရဲ၌ (မလာအိကဟ် ကောင်းကင်တမန်) ဆယ့်ကိုးပါးတို့သည် (စောင့်ကြပ်လျက်) ရှိကြကုန်အံ့သတည်း။

وَمَا جَعَلْنَآ أَصْحَٰبَ ٱلنَّارِ إِلَّا مَلَٰٓئِكَةً ۙ وَمَا جَعَلْنَا عِدَّتَهُمْ إِلَّا فِتْنَةً لِّلَّذِينَ كَفَرُوا۟ لِيَسْتَيْقِنَ ٱلَّذِينَ أُوتُوا۟ ٱلْكِتَٰبَ وَيَزْدَادَ ٱلَّذِينَ ءَامَنُوٓا۟ إِيمَٰنًا

၃၁။ စင်စစ်သော်ကား ငါအရှင်မြတ်သည် "မလာအိကဟ်" ကောင်းကင်တမန်များကိုသာလျှင် ငရဲစောင့်များအဖြစ် ခန့်အပ်ထားတော်မူခဲ့၏။ ၎င်းပြင် ငါအရှင်မြတ်သည် ထိုအစောင့်အကြပ်တို့၏ အရေအတွက်ကို ကာဖိရ် သွေဖည်ငြင်းပယ်သောသူတို့အဖို့ စမ်းသပ်မှုသာလျှင် ပြုလုပ်ထားတော်မူ၏။ နောက်ဆုံးတွင် ကျမ်းဂန်ကို ပေးသနားတော်မူခြင်း ခံခဲ့ကြရသောသူတို့သည် ယုံကြည်လာကြသည့်ပြင် "မုအ်မင်န်" သက်ဝင်ယုံကြည်သောသူတို့မှာ "အီမာန်" သက်ဝင်ယုံကြည်မှု တိုးပွားလာကြပေမည်။ [၁]

(၁) ငရဲကို ကွပ်ကဲသော ကောင်းကင်တမန်များ၏ အရေအတွက်ကို အတိတ်ခေတ် ကျမ်းဂန်ရရှိခဲ့ကြသော ကိတာဗီများသည် ယခင်ကတည်းကပင် သိရှိခဲ့ကြဟန်တူသည်။ တိရ်မိဇီကျမ်းတွင်လည်း ဤအတိုင်းလာရှိသည်။ သို့တည်းမဟုတ် ကိတာဗီများသည် ကောင်းကင်ကျ ကျမ်းဂန်များအရ ကောင်းကင်တမန်များ၌ အဘယ်မျှစွမ်းအင်သတ္တိရှိသည်ကိုလည်းကောင်း၊ ပြစ်ဒဏ်အမျိုးမျိုးအတွက် ကောင်းကင်တမန်အစားစား ➢➢

وَّلَا يَرْتَابَ الَّذِيْنَ اُوْتُوا الْكِتٰبَ وَالْمُؤْمِنُوْنَ ۙ وَلِيَقُوْلَ الَّذِيْنَ فِيْ قُلُوْبِهِمْ مَّرَضٌ وَّالْكٰفِرُوْنَ مَاذَآ اَرَادَ اللّٰهُ بِهٰذَا مَثَلًا ۗ كَذٰلِكَ يُضِلُّ اللّٰهُ مَنْ يَّشَآءُ وَيَهْدِيْ مَنْ يَّشَآءُ ۗ وَمَا يَعْلَمُ جُنُوْدَ رَبِّكَ اِلَّا هُوَ ۗ وَمَا هِيَ اِلَّا ذِكْرٰى لِلْبَشَرِ ﴿٣١﴾

ထို့ပြင် ကျမ်းဂန်ကို ပေးသနားတော်မူခြင်း ခံခဲ့ကြရသောသူတို့သည်လည်းကောင်း၊ "မုအ်မင်န်" သက်ဝင် ယုံကြည်သောသူတို့သည်လည်းကောင်း၊ ယုံမှား သံသယဖြစ်ကြမည် မဟုတ်ပေ။ ထိုမှတစ်ပါး နောက်ဆုံး စိတ်နှလုံးများတွင် ရောဂါဝေဒနာ ရှိနေသောသူတို့သည်လည်းကောင်း၊ ကာဖိရ် သွေဖည် ငြင်းပယ်သောသူတို့သည်လည်းကောင်း၊ ဤသည့် (အရေအတွက်)ကို မိန့်ကြားတော်မူခြင်းအားဖြင့် အလ္လာဟ်အရှင်မြတ်သည် မည်သည့်အရာကို ရည်ရွယ်တော်မူပါသနည်းဟု ပြောဆိုလာကြပေမည်။

ထိုသို့အားဖြင့် အလ္လာဟ်အရှင်မြတ်သည် မိမိအလိုရှိတော်မူသောသူအား လမ်းမှား၌ပင် ရှိမြဲရှိနေစေတော်မူ၏။ ထိုနည်းတူစွာ ထိုအရှင်မြတ်သည် မိမိအလိုရှိတော်မူသောသူအား လမ်းမှန်ကို ညွှန်ပြတော်မူ၏။

စင်စစ်သော်ကား အသင့်အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်၏ စစ်တပ်များကို ထိုအရှင်မြတ်မှတစ်ပါး မည်သူမျှပင် သိရှိမည်မဟုတ်ပေ။ ၁ အမှန်သော်ကား ယင်း"စကရ်"ငရဲနှင့်သက်ဆိုင်သော အကြောင်း အာယတ်တော်များကား လူသားတို့အဖို့ ဆုံးမသြဝါဒသည်သာလျှင် ဖြစ်ပေသည်။

---

➢➢ ရှိရမည်ကိုလည်းကောင်း၊ သိရှိကြပြီးဖြစ်ပေသည်။ သို့အတွက် ဤအာယတ်တော်ကို ကြားသိကြသောအခါ ကိတာဗီများသည် ကုရ်အာန်ကျမ်းမြတ်၏ မှန်ကန်မှုကို ပို၍ ယုံကြည်လာကြပေမည်။ မုအ်မင်န်များ၏ အီမာန်ယုံကြည်မှုသည် ပို၍တိုးပွားလာပေမည်၊ ပို၍ရင့်ကျက်လာပေမည်။

(၁) အလ္လာဟ်အရှင်မြတ်၏ အသင်္ချေ အသင်္ချာသော စစ်သည်တော်များ၏ အရေအတွက်ကို ထိုအရှင်မြတ်သည်ပင် အတိအကျသိရှိတော်မူသည်။ ထိုအရှင်မြတ်မှတစ်ပါး အခြားမည်သူမျှမသိ။ ကောင်းကင်တမန်(၁၉)ပါးသည် ငရဲကို စီမံကွပ်ကဲသော အကြီးအကဲများ၏ အရေအတွက်မျှသာဖြစ်သည်။

كَلَّا وَالْقَمَرِ ﴿٣٢﴾
၃၂။ မှတ်ယူကြလေကုန်။ (ငါအရှင်မြတ်သည်) "လ" ကို သက်သေထူတော်မူ၏။

وَاللَّيْلِ إِذْ أَدْبَرَ ﴿٣٣﴾
၃၃။ ၎င်းပြင် (ငါအရှင်မြတ်သည်) "ညဉ့်" ကို သက်သေထူတော်မူ၏။ အကြင်အခါဝယ် ယင်းညဉ့်သည် ဆုတ်ခွာ၍သွားလေ၏။

وَالصُّبْحِ إِذَا أَسْفَرَ ﴿٣٤﴾
၃၄။ ထို့ပြင် (ငါအရှင်မြတ်သည်) နံနက်အချိန်ကို သက်သေထူတော်မူ၏။ အကြင်အခါဝယ် ယင်းနံနက်အချိန်သည် လင်း၍လာခဲ့၏။ [၁]

إِنَّهَا لَإِحْدَى الْكُبَرِ ﴿٣٥﴾
၃၅။ ဧကန်မလွဲ ယင်း "စကရ်"မှာ (ဂျဟန္နမ် ငရဲ၏) အကြီးအကျယ် ကြောက်မက်ဖွယ် ကောင်းသော (အထပ်များ)အနက် တစ်ခုဖြစ်၏။

نَذِيرًا لِّلْبَشَرِ ﴿٣٦﴾
၃၆။ (ယင်း"စကရ်"သည်) လူသားအား လွန်စွာ သတိပေး နှိုးဆော်လျက်ရှိ၏။

لِمَن شَاءَ مِنكُمْ أَن يَتَقَدَّمَ أَوْ يَتَأَخَّرَ ﴿٣٧﴾
၃၇။ (ဝါ) အသင်တို့အနက် ရှေ့သို့တိုးလိုသောသူ၊ သို့တည်း နောက်ဆုတ်လိုသောသူအား (သတိပေး နှိုးဆော်လျက်ပင် ရှိပေသတည်း)။

---

(၁) ဤအာယတ်တော်တွင် အလ္လာဟ်အရှင်မြတ်သည် သုံးခုသောအရာကို သက်သေထူမိန့်ဆိုထားတော်မူသည်။ ထိုသုံးခုသောအရာသည် ကိယာမတ်နှင့် ဆက်စပ်လျက်ရှိပေသည်။ ဥပမာ လသည် ပထမသော် ငယ်ရာမှ ကြီးလာ၏။ ထို့နောက် ကြီးရာမှငယ်သွား၏။ နောက်ဆုံးတွင် ကွယ်သွား၏။ ဤသည် ဤကမ္ဘာ၏တိုးပွားမှု၊ ဆုတ်ယုတ်မှုနှင့် ဆိတ်သုန်းမှု၏ နမူနာပင်ဖြစ်သည်။ ညဉ့်တွင် အရာဝတ္ထုများသည် ဖုံးကွယ်လျက်ရှိ၏။ နေ့တွင် ပေါ်လွင်ထင်ရှားလာ၏။

ဤပစ္စက္ခသည် ညဉ့်နှင့်တူ၏၊ နောင်တမလွန်ဘဝသည် နေ့နှင့်တူ၏။ တစ်နည်းဆိုသော် ဤပစ္စက္ခဘဝ၏ ဆိတ်သုဉ်းမှုသည် ညဉ့်ကုန်သွားခြင်းနှင့်တူ၏။ နောင်တမလွန်ဘဝ စတင် ပေါ်လွင်ထင်ရှားလာခြင်းသည် နံနက်ချိန် လင်းလာခြင်းနှင့်တူ၏။ ဆိုလိုသည်ကား ဤပစ္စက္ခကမ္ဘာသည် လ ပမာ သခ်ိုရှုမျှသာဖြစ်သည်၊ ညဉ့်ကုန်သည့်အခါ နေ့ရောက်လာသည့်အလား ဤပစ္စက္ခသက်တမ်း ကုန်ဆုံးသည့်အခါ နောင်တမလွန်ဘဝသည် စတင်ပေါ်လာပေမည်ဟူ၏။

كُلُّ نَفْسٍ بِمَا كَسَبَتْ رَهِينَةٌ ﴿٣٨﴾

၃၈။ လူတိုင်းလူတိုင်းမှာ မိမိတို့ ရှာဖွေဆည်းပူးခဲ့ကြသော အပြုအမူများနှင့်စပ်လျဉ်း၍ ချုပ်နှောင်ထားပြီးဖြစ်ကြပေမည်။

إِلَّا أَصْحَابَ الْيَمِينِ ﴿٣٩﴾

၃၉။ သို့ရာတွင် လက်ယာဘက်သားတို့မှာမူကား၊

فِي جَنَّاتٍ يَتَسَاءَلُونَ ﴿٤٠﴾

၄၀။ (ဂျန္နတ်သုခ၏) ဥယျာဉ်များဝယ် ရှိကြပေမည်။ ၎င်းတို့သည် မေးမြန်းလျက်ရှိကြပေမည်။

عَنِ الْمُجْرِمِينَ ﴿٤١﴾

၄၁။ အပြစ်ရှိသူတို့နှင့်ပတ်သက်၍၊ ①

مَا سَلَكَكُمْ فِي سَقَرَ ﴿٤٢﴾

၄၂။ မည်သည့်အရာသည် အသင်တို့အား 'စကရ်' ငရဲထဲသို့ ဆောင်ကျဉ်းခဲ့သနည်းဟူ၍။

قَالُوا لَمْ نَكُ مِنَ الْمُصَلِّينَ ﴿٤٣﴾

၄၃။ ၎င်းတို့က (ဤသို့) ပြောဆိုကြပေမည်။ ကျွန်ုပ်တို့သည် "ဆွလာတ်" ဝတ်ပြုသူတို့တွင် ပါဝင်ခဲ့ကြသည်လည်း မဟုတ်ပေ။

وَلَمْ نَكُ نُطْعِمُ الْمِسْكِينَ ﴿٤٤﴾

၄၄။ ၎င်းပြင် ကျွန်ုပ်တို့သည် သူဆင်းရဲတို့အားလည်း ကျွေးမွေးလှူရှိခဲ့ကြသည် မဟုတ်ပေ။

وَكُنَّا نَخُوضُ مَعَ الْخَائِضِينَ ﴿٤٥﴾

၄၅။ ထိုမှတစ်ပါး ကျွန်ုပ်တို့သည် အချည်းနှီးသော ကိစ္စများကို ပြုလုပ်သောသူတို့နှင့်အတူ အချည်းနှီးသော ကိစ္စများကိုသာ လုပ်နေခဲ့ကြ၏။

وَكُنَّا نُكَذِّبُ بِيَوْمِ الدِّينِ ﴿٤٦﴾

၄၆။ ထိုမှတစ်ပါး ကျွန်ုပ်တို့သည် အစားပေးမည့်နေ့ကိုလည်း မဟုတ်မမှန်ဟူ၍စွပ်စွဲငြင်းပယ်နေခဲ့ကြ၏။

---

① လူတိုင်းသည် မိမိဆည်းပူးခဲ့သော အကျင့်အမူများတွင် တုပ်ပြီး၊ ချုပ်ပြီး၊ နှောင်ပြီးဖြစ်သည်။ သို့ရာတွင် လူ့လောကတွင် ဖြောင့်မတ်မှန်ကန်စွာ ရပ်တည်နေကြသော ကိယာမတ်နေ့တွင်လည်း "အရ်ရှ်" ပလ္လင်တော်၏ လက်ယာဘက်တွင် မတ်တတ်ရပ်ကြသော၊ မှတ်တမ်းများလည်း လက်ယာလက်များတွင် ပေးခြင်းခံကြရသော ပုဂ္ဂိုလ်များမှာမူကား ချုပ်နှောင်မှု ကင်းလွတ်ကြပေမည်။ ဂျန္နတ်တွင် လွတ်လပ်စွာ စံစားလျက်ရှိကြပေမည်။ ပြစ်မှု ကျူးလွန်သူများနှင့် ပတ်သက်၍ မိမိတို့အချင်းချင်း သို့မဟုတ် ကောင်းကင်တမန်များအား မေးမြန်းစုံစမ်းလျက် ရှိကြပေမည်။

၄၇။ နောက်ဆုံးတွင် "မရဏ" သေခြင်းတရားသည် ကျွန်ုပ်တို့ထံ ရောက်ရှိ၍လာခဲ့လေ၏။ [၁]

حَتَّىٰٓ أَتَىٰنَا ٱلْيَقِينُ ٤٧

၄၈။ သို့ဖြစ်ပေရာ ကြားဝင်အသနားခံ၍ ပေးသူတို့၏ ကြားဝင် အသနားခံပေးမှုသည် ၎င်းတို့အား အကျိုးပေးမည်မဟုတ်ပေ။

فَمَا تَنفَعُهُمْ شَفَٰعَةُ ٱلشَّٰفِعِينَ ٤٨

၄၉။ ၎င်းတို့၌ မည်သည့် အကြောင်းရှိသဖြင့် ဆုံးမသြဝါဒဘက်မှ မျက်နှာလွှဲလျက်ရှိကြသနည်း။

فَمَا لَهُمْ عَنِ ٱلتَّذْكِرَةِ مُعْرِضِينَ ٤٩

၅၀။ ၎င်းတို့မှာ (အကြင်) ထွက်ပြေးနေသော မြည်းသတ္တဝါများကဲ့သို့ပင် ဖြစ်ကြကုန်၏။

كَأَنَّهُمْ حُمُرٌ مُّسْتَنفِرَةٌ ٥٠

၅၁။ ယင်း မြည်းသတ္တဝါတို့ကား ကျားတိရစ္ဆာန်(၏ဘေးရန်မှ) (လွတ်မြောက်ရန်) ထွက်ပြေးလျက်ရှိကြကုန်၏။

فَرَّتْ مِن قَسْوَرَةٍۭ ٥١

၅၂။ စင်စစ်မှာကား ၎င်းတို့အနက် လူတိုင်းလူတိုင်းသည် ဖွင့်ထားသော ကျမ်းဂန်များကို ချီးမြှင့်ပေးသနားတော်မူခြင်းကို ခံလိုကြကုန်၏။

بَلْ يُرِيدُ كُلُّ ٱمْرِئٍ مِّنْهُمْ أَن يُؤْتَىٰ صُحُفًا مُّنَشَّرَةً ٥٢

၅၃။ (၎င်းတို့သည် ယင်းသို့ ချီးမြှင့်ပေးသနားတော်မူခြင်းကို) အလျှင်း(ခံကြရမည်) မဟုတ်ပေ။ စင်စစ်မှာကား ၎င်းတို့သည် "အာခိရတ်" တမလွန်ဘဝကို ကြောက်ရွံ့စိုးရိမ်ကြသည် မဟုတ်ပေ။ [၂]

كَلَّا ۖ بَل لَّا يَخَافُونَ ٱلْءَاخِرَةَ ٥٣

---

(၁) ပြစ်မှုကျူးလွန်သူများအား ငရဲတွင် သွင်းထားလိုက်ပြီဖြစ်ကြောင်းကို ဂျန္နတ်သားများ သိကြသောအခါ၊ ငရဲသားများအား ဤအာယတ်တော်တွင် လာရှိသည့်အတိုင်း မေးမြန်းကြပေမည်။ ငရဲသားများကလည်း ဤအာယတ်တော်များတွင် လာရှိသည့်အတိုင်း ဟုတ်တိုင်းမှန်ရာကို ဝန်ခံဖြေကြားကြပေမည်။

အလိုသဘောမှာ ကျွန်ုပ်တို့သည် အလ္လာဟ်အရှင်မြတ်နှင့်ပတ်သက်၍ ထမ်းဆောင်ရမည့် တာဝန်များကို မကျေပွန်ခဲ့ကြပါ၊ လူသားတို့နှင့်ပတ်သက်၍ ထမ်းဆောင်ရမည့် တာဝန်များကိုလည်း မကျေပွန်ခဲ့ကြပါ။ အခြားလူ့ဗာလများကဲ့သို့ ကျွန်ုပ်တို့လည်း အမှန်တရားကို ဆန့်ကျင်ရာတွင် အချည်းနှီး အချိန်ဖြုန်းတီးခဲ့ကြပါသည်။ အချုပ်ပြောရလျှင် ကျွန်ုပ်တို့သည် ဤတရားစီရင်မည့်နေ့ ဆိုက်ရောက်မည်ကိုပင် မယုံကြည်ခဲ့ကြပါ၊ ဤနေ့နှင့် စပ်လျဉ်း၍ ကျွန်ုပ်တို့သည် အမြဲတစေ ငြင်းပယ်၍ပင် နေခဲ့ကြပါသည်။ နောက်ဆုံးတွင် သေခြင်းတရား ➢➢

كَلَّآ إِنَّهُۥ تَذۡكِرَةٞ ٥٤
فَمَن شَآءَ ذَكَرَهُۥ ٥٥
وَمَا يَذۡكُرُونَ إِلَّآ أَن يَشَآءَ ٱللَّهُۚ هُوَ أَهۡلُ ٱلتَّقۡوَىٰ وَأَهۡلُ ٱلۡمَغۡفِرَةِ ٥٦

၅၄။ မှတ်ယူကြလေကုန်။ ဧကန်မလွဲ ယင်းကုရ်အာန်ကျမ်းတော်မြတ်သည် ဆုံးမဩဝါဒပင် ဖြစ်ပေသည်။

၅၅။ သို့ဖြစ်ပေရာမည်သူမဆိုအလိုရှိခဲ့မူ ယင်းဆုံးမဩဝါဒကို လေ့ကျက်မှတ်သားတရားရယူရပေမည်၊ [၁]

၅၆။ စင်စစ်သော်ကား ၎င်းတို့သည် အလ္လာဟ်အရှင်မြတ်အလိုတော်ရှိမှသာလျှင် လေ့ကျက်မှတ်သား တရားရယူနိုင်ကြပေမည်။ [၂] ထိုအရှင်မြတ်သာလျှင် ကြောက်ရွံ့ထိုက်တော်မူသောအရှင်၊ လွတ်ငြိမ်းချမ်းသာခွင့်ပေးတော်မူအံ့သောအရှင်၊ ဖြစ်တော်မူပေသတည်း။ [၃]

---

➤➤ ဆိုက်ရောက်လာခဲ့ပါသည်။ မိမိတို့ကိုယ်တိုင် မျက်ဝါးထင်ထင် တွေ့မြင်ကြရသည့်အခါမှ ယုံကြည်ကြပါသည်။ ယခုမူ ၎င်းတို့၏ယုံကြည်မှုသည် အကျိုးမရှိပြီ။

(၂) အမှန်မှာ ကာဖိရ်များသည် (အာခိရတ်) နောင်တမလွန်ဘဝ၏ ပြစ်ဒဏ်ကို ယုံကြည်ကြသည်မဟုတ်၊ ကြောက်ရွံ့ကြသည်မဟုတ်။ ထို့အတွက်ကြောင့်ပင် ၎င်းတို့သည် အမှန်တရားကို မဆည်းပူးလိုကြပေ။ အထက်တွင်ဖော်ပြပါအတိုင်း အမျိုးမျိုးတောင်းဆိုနေကြခြင်းမှာလည်း အမှန်တရားကို လိုလားကြ၍ ရိုးသားစွာတောင်းဆိုနေကြခြင်းမဟုတ်၊ မရိုးသားသည့်သဘောဖြင့် တောင်းဆိုနေကြခြင်းသာဖြစ်သည်။ အကယ်၍တန္တိ အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့၏တောင်းဆိုချက်များကို လိုက်လျောတော်မူပါကလည်း ၎င်းတို့သည် တစ်မျိုးတစ်ဖုံပြောဆို သွေဖည်မြဲ သွေဖည်သွားကြမည်ပင်။ ကြည့်-ကုရ်အာန်(၆း၇)။

(၁) ကာဖိရ်များ တောင်းဆိုကြသည့်အတိုင်း ၎င်းတို့အသီးသီးတို့အား ကျမ်းတစ်စောင်စီ ပေးရန်မလိုပေ။ ကုရ်အာန်ကျမ်းမြတ်တစ်စောင်တည်းပင် တရားအတွက် ပြည့်စုံသည်။ အားလုံးအဖို့ လုံလောက်သည်။ မည်သူမဆို အလိုရှိက ကုရ်အာန်ကျမ်းမြတ်ကို မှတ်သားနိုင်သည်၊ နာယူကျင့်မှုနိုင်သည်။

(၂) အလ္လာဟ်အရှင်မြတ်၏ အလိုရှိမှု အလိုမရှိမှုသည် အကြောင်းမဲ့မဟုတ်၊ အဓိပ္ပါယ်အပြည့်အဝရှိသည်။ ကျိုးကြောင်းခိုင်လုံသည်။ ဤသည်ကို မည်သူမျှ မသိနိုင်၊ မငြင်းနိုင်၊ ဆိုလိုသည်ကား အလ္လာဟ်အရှင်မြတ်သည် အလုံးစုံကို အကြွင်းမဲ့သိတော်မူသော ဉာဏ်တော်ရှင်ဖြစ်တော်မူသည်။ အားလုံးတို့၏ အရည်အသွေး စွမ်းရည်သတ္တိကို အကြွင်းမဲ့သိတော်မူသည်။ သို့ သိတော်မူသည့်အလျောက် အလ္လာဟ်အရှင်မြတ်သည် အားလုံးတို့နှင့် ထိုက်တန်သည့်အားလျော်စွာ ဆက်ဆံတော်မူသည်။

(၃) အလ္လာဟ်အရှင်မြတ်သည်သာလျှင် ကြောက်ရွံ့ရိုသေ ခန့်ညားတော်မူထိုက်သည်၊ လွတ်ငြိမ်းချမ်းသာခွင့်ပေးတော်မူသည်၊ ထိုအရှင်မြတ်နှင့်သာလျှင် ထိုက်တန်လှသည်။ ဆိုလိုသည်ကား ပုဂ္ဂိုလ်တစ်ဦးသည် အဘယ်မျှပင်ကြီးလေးသည့်ပြစ်မှုများကိုပင် ကျူးလွန်ထားလင့်ကစား၊ အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ရိုသေ ခန့်ညားကာ "တတ်က်ဝါ"လမ်းစဉ်ကို လိုက်နာကျင့်သုံးပါက အလ္လာဟ်အရှင်မြတ်သည် ထိုပုဂ္ဂိုလ်အား မိမိ၏ ကရုဏာတော်ဖြင့် လွတ်ငြိမ်းခွင့်ပေးတော်မူမည်သာ။

# ကိယာမတ် ကဏ္ဍ

سُوْرَةُ الْقِيَامَةِ

ဤကဏ္ဍသည်"ကိယာမတ်"ကဏ္ဍမည်၏။ မက္ကာမြို့တော်၌ကျရောက်ခဲ့၏။
ဤကဏ္ဍတွင် အာယတ်တော်(၄၀)ပါး၊ ရကူအ်အပိုဒ်(၂)ပိုဒ်၊ အသီးသီးပါရှိ၏။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ

အလွန်တရာ ကြင်နာသနားတော်မူသော၊
ကရုဏာတော်ရှင်ဖြစ်တော်မူသော၊
အလ္လာဟ်အရှင်မြတ်၏နာမံတော်ဖြင့် အစပြုပါ၏။

لَآ اُقْسِمُ بِيَوْمِ الْقِيٰمَةِ ①

၁။ ငါ အရှင်မြတ်သည် "ကိယာမတ်" ရှင်ပြန်ထမည့်နေ့ကို သက်သေထူ ကျိန်ဆိုတော်မူ၏။ [၁]

وَلَآ اُقْسِمُ بِالنَّفْسِ اللَّوَّامَةِ ②

၂။ ထိုမှတစ်ပါး ငါအရှင်မြတ်သည် (မိမိကိုယ်ကို) လွန်စွာ ပြစ်တင်ဆုံးမတတ်သောစိတ်ကို သက်သေထူ ကျိန်ဆိုတော်မူ၏။ [၂]

---

(၁) အရဗ်ဘာသာစာပေဝေါဟာရ အသုံးအနှုန်းတွင် တိုင်တည်ကျိန်ဆိုရာ၌ လေးနက်စေရန်အလို့ငှာ (လာ-နာဖိယဟ်) မဟုတ်၊ မရှိ၊ မဖြစ် စသည့် အနက်ပေးသော "လာ" ဟူသောပုဒ်ကို တိုင်တည်ကျိန်ဆိုသည့် ကြိယာပုဒ်ရှေ့တွင် ထည့်သွင်းသုံးနှုန်းလေ့ရှိကြသည်။ ဤအာယတ်တော်တွင်လည်း ဤနည်းအတိုင်းပင် သုံးနှုန်းထားတော်မူသည်။

ကိယာမတ်နေ့သည် အတိုင်းမသိ ကြီးကျယ်သော ကြောက်မက်ဖွယ်ကောင်းသော နေ့ကြီးဖြစ်သည်၊ ထိုနေ့မှာပင် လူသားတို့သည် ကျိုး-ပြစ် ခံ-စံကြရပေမည်။ ဤကဏ္ဍတွင်လည်း ကျိုး-ပြစ် ခံ-စံကြရမည့် အကြောင်းကိုပင် အဓိကထား၍ မိန့်ဆိုထားတော်မူသည်။ ထို့အတွက်ကြောင့်ပင်၊ အလ္လာဟ်အရှင်မြတ်သည် ဤကဏ္ဍ၏အစတွင် ကိယာမတ်နေ့ကို တိုင်တည်မိန့်ဆိုထားတော်မူခြင်းဖြစ်သည်။

(၂) စိတ်သည် အမှန်မှာ တစ်ခုတည်းသာရှိသည်၊ သို့ရာတွင် စိတ်တွင် အခြေအနေသုံးမျိုးသုံးစားရှိသည်ကို အကြောင်းပြု၍ အမည်သုံးမျိုးဖြစ်နေသည်။ (၁)မွတ်မအင်နဟ်၊ (၂)အမ္မာရဟ်၊ (၃)လောင်ဝါမဟ်။ ဤစိတ်သုံးမျိုးသုံးစားအကြောင်း ကုရ်အာန်(၈၉:၂၇)၏အဖွင့်တွင် အကျယ်ရေးသားပေမည်။

**မှတ်ချက်။**

ဤအာယတ်တော်တွင် အလ္လာဟ်အရှင်မြတ်သည် "လောင်ဝါမဟ်"ကို ကျိန်ဆိုသက်သေထူတော်မူ၍ လူသားတို့အား သတိပေးထားတော်မူသည်မှာ အကယ်၍ လူသားသည် မှန်ကန်ဖြောင့်မတ်ဖြူစင်သော မူလသဘာဝအပေါ်၌ ရပ်တည်နေပါက၊ လူသား၏စိတ်သည် ဤပစ္စက္ခမှာပင် ချွတ်ယွင်းမှု၊ ချို့တဲ့မှု၊ မကောင်းမှုတို့ကို ကဲ့ရဲ့ပြစ်တင် ရှုတ်ချပေသည်။ ဤသည်ပင် ကိယာမတ်နေ့တွင် အပြည့်စုံအဆုံး၊ အထင်ရှားဆုံးအဖြစ်နှင့် ပေါ်လွင်ထင်ရှားလာပေမည်။

اَيَحۡسَبُ الۡاِنۡسَانُ اَلَّنۡ نَّجۡمَعَ عِظَامَهٗ ؕ﴿٣﴾

၃။ လူသားသည် ၎င်း၏အရိုးများကို ငါအရှင်မြတ် စုပေါင်းတော်မူမည်မဟုတ်ဟု ထင်မှတ်၍နေလေသလော။

بَلٰى قٰدِرِيۡنَ عَلٰۤى اَنۡ نُّسَوِّىَ بَنَانَهٗ ﴿٤﴾

၄။ အဘယ်ကြောင့် မဟုတ်ပါသနည်း။ ငါအရှင်မြတ်သည် ထိုလူသား၏ လက်ဆစ်ခြေဆစ်များကိုပင်လျှင် မူလအခြေအနေအတိုင်း ပြန်၍ပြုပြင်ဖန်ဆင်းရန် တတ်စွမ်းနိုင်တော်မူသောအရှင် ဖြစ်တော်မူ၏။

بَلۡ يُرِيۡدُ الۡاِنۡسَانُ لِيَفۡجُرَ اَمَامَهٗ ۚ﴿٥﴾

၅။ စင်စစ်မှာကား လူသားသည် မိမိရှေ့အနာဂတ်ကာလ၌ဖြစ်အံ့သော "ကိယာမတ်" ရှင်ပြန်ထမည့်နေ့ကို မဟုတ်မမှန်ဟူ၍ စွပ်စွဲငြင်းပယ်လို၏။

(တစ်နည်း) စင်စစ်မှာကား လူသားသည် အနာဂတ်ကာလ၌လည်း ပြစ်မှုဒုစရိုက် ကျူးလွန်လို၏။

يَسۡـَٔلُ اَيَّانَ يَوۡمُ الۡقِيٰمَةِ ؕ﴿٦﴾

၆။ ထိုလူသားက 'ကိယာမတ်' ရှင်ပြန်ထမည့်နေ့သည် မည်သည့်အခါ၌ဖြစ်အံ့နည်းဟု မေးမြန်း၏။

فَاِذَا بَرِقَ الۡبَصَرُ ۙ﴿٧﴾

၇။ စင်စစ်မှာကား အကြင်အခါဝယ် မျက်စိများ မိန်းမောတွေဝေ ထိုင်းမှိုင်း၍ သွားပေမည်။

وَخَسَفَ الۡقَمَرُ ۙ﴿٨﴾

၈။ ၎င်းပြင် "လ" သည် အလင်းရောင် ကင်းမဲ့၍သွားပေမည်။

وَجُمِعَ الشَّمۡسُ وَالۡقَمَرُ ۙ﴿٩﴾

၉။ ထိုမှတစ်ပါး "နေ"နှင့်"လ" တို့သည် ပေါင်းစပ်ခြင်းကို ခံကြရပေမည်။

(တစ်နည်း) "နေ" နှင့် "လ" တို့သည် တစ်မျိုးတစ်စားတည်း ဖြစ်စေခြင်းကို ခံကြရပေမည်။

يَقُوۡلُ الۡاِنۡسَانُ يَوۡمَٮِٕذٍ اَيۡنَ الۡمَفَرُّ ۚ﴿١٠﴾

၁၀။ ထိုနေ့တွင် လူသားသည် (ကျွန်ုပ်) အဘယ်သို့ ပြေးရပါမည်နည်းဟု ပြောဆိုပေမည်။

كَلَّا لَا وَزَرَ ﴿١١﴾

၁၁။ အလျှင်း မဟုတ်။ ခိုလှုံရာဟူ၍ အလျှင်း ရှိလိမ့်မည် မဟုတ်ပေ။

إِلَىٰ رَبِّكَ يَوْمَئِذٍ الْمُسْتَقَرُّ ﴿١٢﴾

၁၂။ ထိုနေ့တွင် နေထိုင်ရာဌာနဟူသည် အသင့်အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်ထံတော်၌သာလျှင် ရှိချေမည်။ [၁]

يُنَبَّأُ الْإِنسَانُ يَوْمَئِذٍ بِمَا قَدَّمَ وَأَخَّرَ ﴿١٣﴾

၁၃။ ထိုနေ့တွင် လူသားသည် မိမိ တင်ကြိုပို့နှင့်ခဲ့သည်ကိုလည်းကောင်း၊ မိမိ နောက်ချန်ရစ်ခဲ့သည်ကိုလည်းကောင်း၊ ပြောပြခြင်းကို ခံရပေမည်။

بَلِ الْإِنسَانُ عَلَىٰ نَفْسِهِ بَصِيرَةٌ ﴿١٤﴾

၁၄။ စင်စစ်မှာကား လူသားသည် မိမိကိုယ်ကိုမိမိ ကောင်းစွာ မြင်သူဖြစ်မည်။

(တစ်နည်း:) စင်စစ်မှာကား လူသား၏ ခန္ဓာကိုယ်၌ပင် သက်သေရှိနေပေမည်။

وَلَوْ أَلْقَىٰ مَعَاذِيرَهُ ﴿١٥﴾

၁၅။ စင်စစ် ၎င်းသည် မိမိ အကြောင်းပြချက်များကို (မည်မျှပင်) တင်ပြငြားအံ့လည်း။

لَا تُحَرِّكْ بِهِ لِسَانَكَ لِتَعْجَلَ بِهِ ﴿١٦﴾

၁၆။ အသင်သည် (ကောင်းကင်တမန် ဂျစ်ဗ်ရီလ်သည် ကုရ်အာန်ကျမ်းလာ အာယတ်တော်များကို ရွတ်ဖတ်တော်မူသည့်အခါ) အသင်၏လျှာကို (ယင်းအာယတ်တော်များကို) အလျှင်အမြန် (ကျက်မှတ်) ရယူရန်အလို့ငှာ မလှုပ်လေနှင့်။

(၁) ကိယာမတ်နေ့တွင် အတိုင်းမသိ ကြောက်မက်ဖွယ်ရာ အဖြစ်အပျက်များကို တွေ့မြင်ရသောအခါ၊ အကြောက်ကြီးကြောက် အလန့်ကြီးလန့်ကာ မျက်စိများ ပြာသွားပေမည်။ "လ"သည် အလင်းရောင်မဲ့ ဖြစ်သွားပေမည်။ နေနှင့် လကို ပေါင်းစပ်လိုက်ပေမည်။ ထိုအခါ တစ်ချိန်က ကိယာမတ်သည် မည်သည့်အခါ ဖြစ်မည်နည်းဟူ၍ပင် မေးမြန်းခဲ့သော ကာဖိရ်လူသားသည် ကိယာမတ်ကို မျက်ဝါးထင်ထင် တွေ့မြင်ရသောအခါ ကြောက်လန့်ကာ ကျွန်ုပ်သည် အဘယ်သို့ တိမ်းရှောင်ထွက်ပြေးရပါမည်နည်းဟု ပြောဆိုညည်းညူပေမည်။ ယနေ့အဖို့မှာကား ထွက်ပြေးတိမ်းရှောင်နိုင်ရန် နေရာဌာနဟူ၍ အလျှင်းရှိမည်မဟုတ်။ အလ္လာဟ် အရှင်မြတ်၏ ရှေ့တော်မှောက်သို့ အစစ်အဆေးခံရန်အတွက် မလွဲမရှောင်သာ ရောက်ရမည်သာ။ တရားသဖြင့် စီရင်တော်မူခြင်း ခံရမည်သာ။ ကျိုး-ပြစ် ခံ-စံရမည်သာ။

اِنَّ عَلَيْنَا جَمْعَهٗ وَقُرْاٰنَهٗ ﴿١٧﴾

၁၇။ ကေန်စင်စစ် ယင်း(ကုရ်အာန်ကျမ်းတော်မြတ်)ကို စုပေါင်းခြင်းသည်လည်းကောင်း၊ ထိုနည်းတူစွာ (ယင်းကုရ်အာန်ကျမ်းမြတ်ကို) ဖတ်စေခြင်းသည်လည်းကောင်း၊ ငါအရှင်မြတ်၏တာဝန်ဖြစ်၏။

فَاِذَا قَرَاْنٰهُ فَاتَّبِعْ قُرْاٰنَهٗ ﴿١٨﴾

၁၈။ သို့ဖြစ်ပေရာ အကြင်အခါဝယ် ငါအရှင်မြတ်သည် ယင်း(ကုရ်အာန်ကျမ်းတော်မြတ်) ဖတ်ကြားတော်မူခဲ့အံ့။ ထိုအခါ (ယင်းကုရ်အာန်၏ ဖတ်ကြားချက်ကို) အသင်သည် လိုက်(၍ဖတ်)ပါလေ။ နားထောင်ပါလေ။

ثُمَّ اِنَّ عَلَيْنَا بَيَانَهٗ ﴿١٩﴾

၁၉။ ထို့နောက် ယင်းကုရ်အာန်ကျမ်းတော်မြတ်ကို ရှင်းပြခြင်းမှာလည်း ကေန်အမှန် ငါအရှင်မြတ်၏ တာဝန်သာဖြစ်၏။ [၁]

(၁) ကောင်းကင်တမန် ဂျစ်ဗ်ရီလ်သည် ကုရ်အာန်ကျမ်းလာ အာယတ်တော်များကို အလ္လာဟ်အရှင်မြတ်ထံတော်မှ ယူဆောင်၍ တမန်တော်မြတ်အား ဖတ်ကြားပြသသည့်အခါ တမန်တော်မြတ်သည် အစပထမတွင် သက်ဆိုင်ရာ အာယတ်တော်များကို ကောင်းကင်တမန် ပြန်မသွားမီ ချက်ချင်း ကျက်မှတ်ထားနိုင်ရန်အလို့ငှာ စိတ်တွင်းမှ လိုက်၍ရွတ်ဖတ်တော်မူလေ့ရှိခဲ့၏။ ဤနည်းသည် တမန်တော်မြတ်အဖို့ မလွယ်ကူလှပေ၊ ကျက်မှတ်ရာတွင်လည်း အခက်အခဲရှိ၏။ ထို့အတွက် အလ္လာဟ်အရှင်မြတ်က ဤအာယတ်တော်တွင် လာရှိသည့်အတိုင်း အို-တမန်တော်၊ အသင်သည် ကုရ်အာန်ကျမ်းလာ အာယတ်တော်များကို အလျင်စလိုလိုက်၍ နှုတ်လျှာတရွရွ ရွတ်ဖတ်နေရန်မလိုပေ။ စိတ်ရောကိုယ်ပါ အာရုံပြု၍ နားထောင်ရန်သာ လိုပေသည်။ အသင်၏စိတ်နှလုံးသားတွင် ကုရ်အာန်ကျမ်းလာ အာယတ်တော်များကို စ-လယ်-ဆုံး တစ်လုံးမကျန် မှတ်ထင်စေခြင်း၊ အသင်၏ နှုတ်လျှာမှ ရွတ်ဖတ်ပြစေခြင်း၊ အနက်အဓိပ္ပါယ်များကို လင်းပြခြင်း၊ သူတစ်ပါးတို့အား ဟောကြားခြင်းများသည် ငါအရှင်မြတ်၏ တာဝန်ဖြစ်သည်၊ အသင် ပူပန်သောက မဖြစ်လေနှင့်ဟု မိန့်ကြားတော်မူလိုက်လေသည်။

ထိုအချိန်မှစ၍ တမန်တော်မြတ်သည် ကျရောက်လာသော ကုရ်အာန်ကျမ်းလာ အာယတ်တော်များကို ကောင်းကင်တမန် ဂျစ်ဗ်ရီလ်နှင့်အတူ အလျင်စလို လိုက်၍ ရွတ်ဖတ်ခြင်းကို စွန့်လွှတ်လိုက်ပေသည်။ သို့တစေလည်း ကောင်းကင်တမန် ပြန်သွားသည့်အခါ တမန်တော်မြတ်သည် အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်ဖြင့် ကုရ်အာန်ကျမ်း အာယတ်တော်များကို စ-လယ်-အဆုံး တစ်လုံးမကျန် မှတ်မိတော်မူသည်၊ သွက်လက်စွာ ဖတ်ပြတော်မူနိုင်သည်၊ အနက်သဘောကို ကောင်းစွာသိတော်မူသည်၊ သူတစ်ပါးတို့အား စနစ်တကျ ဟောပြ လင်းပြတော်မူနိုင်ပေသည်။ ဤသည်လည်း တန်ခိုးတော်တစ်ပါးပင်။

အထက်တွင် အလ္လာဟ်အရှင်မြတ်သည် လူသား၏ အစိတ်စိတ်အမွှာမွှာဖြစ်နေသော၊ ပြန့်နှံ့လျက်ရှိသော အရိုးများကို ပြန်လည်စုပေါင်းပေးတော်မူမည့်အကြောင်း၊ လူသားကြိုတင်ပို့နှင့်ထားခဲ့သော အကျင့်အမူများနှင့် မိမိနောက်တွင် ချန်ရစ်ထားခဲ့သည့် အကျင့်အမူများကို လူသားအား စ-လယ်-အဆုံး အသိပေးတော်မူမည့် ➢➢

كَلَّا بَلْ تُحِبُّونَ الْعَاجِلَةَ ﴿٢٠﴾

၂၀။ မှတ်ယူကြလေကုန်။ စင်စစ်မှာကား အသင်တို့သည် လောကီဘဝကို နှစ်သက်ကြကုန်၏။

وَتَذَرُونَ الْآخِرَةَ ﴿٢١﴾

၂၁။ ၎င်းပြင် အသင်တို့သည် "အာခိရတ်"တမလွန်ဘဝကို စွန့်လွှတ်ကြကုန်၏။

وُجُوهٌ يَوْمَئِذٍ نَّاضِرَةٌ ﴿٢٢﴾

၂၂။ ထိုနေ့တွင် များစွာသော မျက်နှာတို့မှာ ရွှင်လန်းလျက် ရှိကြပေမည်။

إِلَىٰ رَبِّهَا نَاظِرَةٌ ﴿٢٣﴾

၂၃။ မိမိတို့ကို ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်အား ဖူးမြော်လျက် ရှိကြပေမည်။ ၁

وَوُجُوهٌ يَوْمَئِذٍ بَاسِرَةٌ ﴿٢٤﴾

၂၄။ သို့ရာတွင် များစွာသော မျက်နှာတို့မှာမူကား ညှိုးနွမ်းလျက်ပင် ရှိကြပေမည်။

تَظُنُّ أَن يُفْعَلَ بِهَا فَاقِرَةٌ ﴿٢٥﴾

၂၅။ ၎င်းတို့၌ ခါးရိုးကျိုးစေမည့် ပြစ်ဒဏ်ကို ခံရမည်ကို ကောင်းမွန်စွာ သိလျက်ရှိကြကုန်အံ့သတည်း။

كَلَّا إِذَا بَلَغَتِ التَّرَاقِيَ ﴿٢٦﴾

၂၆။ မှတ်ယူကြလေကုန်၊ အကြင်အခါဝယ် အသက်ဇီဝိန်သည် ညှပ်ရိုးများသို့ ရောက်ရှိ၍သွားလေ၏။ ၂

---

>> အကြောင်းပါရှိ၏။ ဤသည့်တန်ခိုးတော်သည် အထက်ပါအကြောင်း ၂-ရပ်အတွက် လက်တွေ့အထောက်အထား သာဓကတစ်ရပ်ပင်။ အလ္လာဟ်အရှင်မြတ်သည် မြောက်မြားစွာ အာယတ်တော်များကို တမန်တော်မြတ်နှလုံးသားတွင် အသံထွက်နှင့်တကွ အနက်သဘောကိုပါ ထင်းလင်းမှတ်သားစေတော်မူနိုင်သည် ဖြစ်ရာ၊ လူသားတို့အား ၎င်းတို့၏ ရှေးနောင်း အကျင့်အမူများကို အသို့လျှင် စုပေါင်း၍ပြတော်မမူဘဲ ရှိနိုင်အံ့နည်း။ ထို့အတူ ပြန့်လွင့်လျက်ရှိသော အရိုးများကို ပြန်လည်စုပေါင်း၍ ယခင်အတိုင်း လူသားတို့အား ပြန်လည်ရှင်ထစေတော်မမူဘဲ အသို့လျှင် ရှိနိုင်အံ့နည်း။

(၁) ကိယာမတ်နေ့တွင် အချို့မျက်နှာများသည် ရွှင်လန်းလျက်ရှိကြပေမည်။ အလ္လာဟ်အရှင်မြတ်အား ဖူးမြော်လျက်ရှိကြပေမည်။ ဤသည် နောင်တမလွန်ဘဝကို ယုံကြည်သော သူတော်စင်များ၏ အကျိုးဆက်ပင်။

ကုရ်အာန်ကျမ်းလာ အာယတ်တော်များနှင့် ခိုင်လုံသော ဟဒီးဆ်သြဝါဒတော်များကို ထောက်ရှုခြင်းအားဖြင့် သူတော်သူမြတ်တို့သည် နောင်တမလွန်ဘဝတွင် အလ္လာဟ်အရှင်မြတ်အား ဖူးမြင်ကြရမည်မှာ အမှန်မုချပင်။ (အလ္လာဟ်အရှင်မြတ်သည် ကျွန်တော်မျိုးအား မိမိ၏ကျေးဇူးတော်ဖြင့် ဤသည့် အတိုင်းမသိကြီးကဲမြင့်မြတ်ဘိသော အခွင့်ထူး အခွင့်မြတ်ကို ချီးမြှင့်တော်မူသည် ဖြစ်ပါစေသတည်း)။

وَقِيْلَ مَنْ ۜ رَاقٍ ﴿٢٧﴾

၂၇။ ၎င်းပြင် (ထိုဝေဒနာရှင်၏ အနီးအနား၌ရှိသူတို့က) မန်းမှုတ်မည့်သူ ရှိပါသလောဟု ဟစ်အော်ကြပေမည်။ [၁]

وَّظَنَّ اَنَّهُ الْفِرَاقُ ﴿٢٨﴾

၂၈။ ၎င်းပြင် ဧကန်စင်စစ် ဤအချိန်ကား (လောကီဘဝမှ) စွန့်ခွာရမည့်အချိန်ဖြစ်သည်ဟု ထိုသူ ယုံကြည်လျက်ရှိပေမည်။

وَالْتَفَّتِ السَّاقُ بِالسَّاقِ ﴿٢٩﴾

၂၉။ ထို့ပြင် ခြေသလုံးသည် ခြေသလုံးနှင့် ကပ်သွားပေမည်။ (တစ်နည်း) ထို့ပြင် ဒုက္ခသည် ဒုက္ခပေါ်၌ ထပ်ဆင့်၍ သွားပေမည်။ [၂]

---

(၂) နောင်တမလွန်ဘဝသည် မဝေးလှပြီ။ နောင်တမလွန်ဘဝ၏ ပထမခုံးအဆင့်သည် သေခြင်းပင်ဖြစ်သည်၊ သေခြင်းတရားသည် ကပ်လျက်ရှိချေပြီ။ ဤအဆင့်မှ အဆင့်ဆင့်တက်လှမ်းကာ နောက်ဆုံးအဆင့်သို့ ရောက်ရမည်ဖြစ်သည်။ တစ်နည်းဆိုသော် လူတစ်ယောက်၏ သေဆုံးခြင်းသည် ထိုသူအဖို့ ကိယာမတ်ကြီး၏ နမူနာကလေးတစ်ခုပင်ဖြစ်သည်။ အသက် ညှပ်ရိုးသို့ ရောက်သည့်အခါ၊ အသက်ငင်သည့်အခါ၊ နောင်တမလွန်ဘဝ၏ခရီး စတင်ပြီဟူ၍ မှတ်ယူရပေမည်။

(၁) အသက်သေအံ့ဆဲဆဲဖြစ်၍ ဆေးဆရာများ၊ ဆရာဝန်များ လက်လျှော့လိုက်ကြရသည့်အခါ၊ အသက်ရှင်ရန် မျှော်လင့်ချက်အားလုံး ကုန်ဆုံးသည့်အခါ မန်းကြမှုတ်ကြသည်၊ မန်းမှုတ်သည့်ဆရာများကို စုံစမ်းမေးမြန်းကြသည်။ ဤသည် မျက်မြင်ကိုယ်တွေ့ပင်။

အချို့ပညာရှင်များက ဤအာယတ်တော်တွင်ပါရှိသည့် ( مَنْ ۜ رَاقٍ ) "မန်းရာကင်န်"ဟူသော စကားသည် သေမင်းတမန်နှင့်အတူ လိုက်ပါလာသော ကောင်းကင်တမန်များ၏ စကားဖြစ်သည်။ ထိုကောင်းကင်တမန်များသည် ဤသူသေ၏အသက်ကို မည်သူ ယူဆောင်သွားအံ့နည်း၊ (ဝါ) ကရုဏာတော်ဆိုင်ရာ ကောင်းကင်တမန်က ယူဆောင်သွားမည်လော၊ သို့တည်းမဟုတ် ပြစ်ဒဏ်ဆိုင်ရာကောင်းကင်တမန်က ယူဆောင်သွားမည်လောဟူ၍ အချင်းချင်းမေးမြန်းကြပေသည်။ ဤဒုတိယဖွင့်ဆိုချက်အရ ဤအာယတ်တော်တွင်လာရှိသည့် ( راقٍ ) (ရာကင်န်)ဟူသောပုဒ်သည် အထက်သို့တက်ခြင်း အနက်ပေးသည်။ ( رُقِى ) (ရုကာ)ဟူသော မူရင်းပုဒ်မှ ဆင်းသက်ခြင်းဖြစ်သည်။ မန်းမှုတ်ခြင်း အနက်ပေးသည့် ( رقية ) (ရုကီယဟ်)ဟူသော မူရင်းပုဒ်မှ ဆင်းသက်ခြင်းမဟုတ်ပေ။

(၂) လူသည် သေအံ့ဆဲဆဲဖြစ်သောအခါ များသောအားဖြင့် ခြေသလုံးချင်းကပ်သွား၏။ ထပ်သွား၏။ ကိုယ်ခန္ဓာ၏ အောက်ပိုင်းသည် အသက်နှင့် အဆက်ပြတ်သွားသည့်အခါ ခြေလှုပ်ရှားမှု ထိန်းသိမ်းမှုသည် လူ၏လက်တွင်း၌ မရှိတော့ပေ။ ထို့အတွက် ခြေသလုံးများသည် ကစဉ့်ကလျားဖြစ်ကာ တစ်ခုအပေါ်တစ်ခု ကျသွားတတ်၏။

အချို့ပညာရှင်များ၏ ယူဆချက်အရ အရပ်စာပေတွင် အလွန်ကြီးမားသောဒုက္ခကို ခြေသလုံးဖြင့် ➤➤

၃၀။ ထိုနေ့တွင် အသင့်အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်အထံတော်သို့ပင် ပြန်သွားရပေမည်။

إِلَىٰ رَبِّكَ يَوْمَئِذٍ الْمَسَاقُ ۝٣٠

၃၁။ စင်စစ်သော်ကား ထိုလူသားသည် ဟုတ်မှန်ကြောင်း ယုံကြည်ထောက်ခံခဲ့သည်လည်း မဟုတ်ပေ။ "ဆွလာတ်"ဝတ်ပြုခဲ့သည်လည်း မဟုတ်ပေ။

فَلَا صَدَّقَ وَلَا صَلَّىٰ ۝٣١

၃၂။ သို့ရာတွင် ၎င်းသည် မဟုတ်မမှန်ဟူ၍ စွပ်စွဲငြင်းပယ်ခြင်းကိုသာလည်းကောင်း၊ မျက်နှာလွှဲခြင်းကိုသာလည်းကောင်း၊ ပြုခဲ့၏။

وَلَٰكِن كَذَّبَ وَتَوَلَّىٰ ۝٣٢

၃၃။ ထို့နောက် ၎င်းသည် မော်ကြွားဟန်ချီလျက် မိမိ အိမ်သူအိမ်သားတို့ထံ သွားခဲ့၏။

ثُمَّ ذَهَبَ إِلَىٰ أَهْلِهِ يَتَمَطَّىٰ ۝٣٣

၃၄။ အသင်၌ ပျက်စီးခြင်းအပေါ်ဝယ် ပျက်စီးခြင်းသာရှိပေမည်။

أَوْلَىٰ لَكَ فَأَوْلَىٰ ۝٣٤

၃၅။ ထို့နောက် တစ်ဖန် အသင်၌ ပျက်စီးခြင်းအပေါ်ဝယ် ပျက်စီးခြင်းသည်သာ ရှိပေမည်။ [၁]

ثُمَّ أَوْلَىٰ لَكَ فَأَوْلَىٰ ۝٣٥

၃၆။ လူသားသည် မိမိမှာ ဤအတိုင်း စွန့်လွှတ်ထားခြင်းကို ခံနေရမည်ဟု ထင်မှတ်လေသလော။

أَيَحْسَبُ الْإِنسَانُ أَن يُتْرَكَ سُدًى ۝٣٦

---

➤➤ တင်စားသုံးနှုန်းလေ့ရှိကြသည်။ ဆိုလိုသည်ကား ဒုက္ခတစ်ခုသည် အခြားဒုက္ခတစ်ခုနှင့် ပေါင်းစပ်သွား၏။ အဘယ့်ကြောင့်ဆိုသော် သေသူတစ်ဦးသည် ထိုအချိန်တွင် ဒုက္ခကြီး ၂-ခုနှင့် ရင်ဆိုင်ရသည်။ (၁) ဤပစ္စက္ခဘဝမှစွန့်ခွာရခြင်း ဒုက္ခ၊ သားသမီး၊ ဇနီး ခြွေရံသင်းပင်းနှင့် ရွှေငွေဥစ္စာပစ္စည်းများကို စွန့်ထားခဲ့ရခြင်းဒုက္ခ။ (၂) သင်္ချိုင်းနှင့် နောင်တမလွန်တွင် တွေ့ကြုံရမည့် ဒုက္ခ။

① ဆိုလိုသည်ကား လူသားသည် သက်ဆိုင်ရာတမန်တော်များအား ယုံကြည်ထောက်ခံရမည့်အစား သွေဖည်ငြင်းပယ်ခဲ့၏။ အလ္လာဟ်အရှင်မြတ်အား ဆွလာတ်ဝတ်ပြုရမည့်အစား ကျောခိုင်း၍ နေခဲ့၏။ ထို့မျှမက မိမိ၏ သွေဖည်ငြင်းပယ်မှု၊ ကျောခိုင်းမှုကိုပင် အကောင်းထင်ကာ သူရဲကောင်းကြီးပမာ မောက်မာပလွှားဝါကြွားစွာဖြင့် မိမိ၏ အိမ်သူအိမ်သားများထံသို့ သွားလာနေခဲ့၏။ ယင်းသို့သော သူမိုက်သည် တစ်ကြိမ်မက နှစ်ကြိမ်မက အကြိမ်ကြိမ်အခါခါ ထပ်ကာထပ်ကာ ပျက်စီးခြင်းကြီးမက ပျက်စီးရမည်သာတည်း။

أَلَمْ يَكُ نُطْفَةً مِّن مَّنِيٍّ يُمْنَىٰ ﴿٣٧﴾

၃၇॥ ၎င်းမှာ သွန်းလောင်းခြင်းခံရသော သုတ်ရည် တစ်စက်သာလျှင် ဖြစ်ခဲ့သည်မဟုတ်လော။

ثُمَّ كَانَ عَلَقَةً فَخَلَقَ فَسَوَّىٰ ﴿٣٨﴾

၃၈॥ ထို့နောက် ယင်းသုတ်ရည်သည် သွေးခဲဖြစ်ခဲ့၏။ တစ်ဖန် ထိုအရှင်မြတ်သည် (၎င်းအား) ဖန်ဆင်းတော်မူခဲ့၏။ ထို့နောက် ထိုအရှင်မြတ်သည် (၎င်းအား) နေသားကျနအောင် ပြုပြင်တော်မူခဲ့၏။

فَجَعَلَ مِنْهُ الزَّوْجَيْنِ الذَّكَرَ وَالْأُنثَىٰ ﴿٣٩﴾

၃၉॥ ထို့နောက် ထိုအရှင်မြတ်သည် ယင်း(သွေးခဲဖြစ်သွားခဲ့သောသုတ်ရည်)ကို ယောကျ်ားမိန်းမ(ဟူ၍) နှစ်မျိုးနှစ်စား ပြုလုပ်တော်မူခဲ့၏။

أَلَيْسَ ذَٰلِكَ بِقَادِرٍ عَلَىٰ أَن يُحْيِيَ الْمَوْتَىٰ ﴿٤٠﴾

၄၀॥ ထို(ကဲ့သို့သော)အရှင်မြတ်သည် သူသေတို့အား (တစ်ဖန်ပြန်၍) ရှင်စေတော်မူရန် တတ်စွမ်းနိုင်တော်မူသောအရှင် မဟုတ်ပါသလော။ [1]

---

(၁) လူသားသည် အချုပ်အချယ်ကင်းမဲ့စွာ စွန့်လွှတ်ထားခြင်း ခံနေရမည်ဟူ၍ ထင်မှတ်နေလေသလော၊ (ဝါ) အမိန့်တစ်စုံတစ်ရာ နာယူကျင့်မူရန် မရှိ၊ သေပြီးနောက် ပြန်လည်ရှင်ထရန် မရှိ၊ အစစ်အဆေးမရှိ ကျိုး-ပြစ် ခံ-စံရမည်မဟုတ်ဟူ၍ ထင်မှတ်နေလေသလော။ လူသား စဉ်းစားဆင်ခြင်အပ်သည်မှာ သူသည် သုက်ရည်တစ်စက်မျှသာဖြစ်ခဲ့၏။ ထိုမှတစ်ဆင့် သွေးစိုင်သွေးခဲတစ်ခု ဖြစ်လာခဲ့၏။ ယင်းသည့် သွေးစိုင်သွေးခဲမှပင် အလ္လာဟ်အရှင်မြတ်သည် သူ့အား စနစ်တကျ အချိုးကျကျ ဖန်ဆင်းတော်မူခဲ့၏။ ရုပ်၊ နာမ်ဆိုင်ရာ လိုအပ်သည့် စွမ်းရည်များကို ချီးမြှင့်တော်မူ၍ လူတစ်လုံးသူတစ်လုံး အဖြစ် မြှောက်စားတော်မူခဲ့၏။ ထိုမျှမက ခင်မင်ရင်းနှီးစွာ နေနိုင်ရန်နှင့် လူဆက်ပြတ်မသွားစေရန်အလို့ငှာ ကျားနှင့်မကိုလည်း အံ့ဖွယ်သရဲ ဒွန်တွဲဖန်ဆင်းထားတော်မူခဲ့၏။ ဤသို့ပြုစွမ်းတော်မူနိုင်သော ဤသို့သော တန်ခိုးတော်၊ ဉာဏ်တော်များနှင့် ပြည့်စုံတော်မူသော အလ္လာဟ်အရှင်မြတ်သည် သူသေများအား ပြန်လည်ရှင်ထစေတော်မူနိုင်မည် မဟုတ်ပါလော။ လူသားသည် ဤမျှပင် မစဉ်းစား မဆင်ခြင်မိလေသလော။

# ဒေဟ် ကဏ္ဍ

سُوْرَةُ الدَّهْرِ

ဤကဏ္ဍသည်"ဒဟ်ရ်" "ဒေဟ်" ကဏ္ဍမည်၏။ မက္ကာမြို့တော်၌ကျရောက်ခဲ့၏။
ဤကဏ္ဍတွင်အာယတ်တော်(၃၁)ပါး၊ ရကူအ်အပိုဒ်(၃)ပိုဒ်၊ အသီးသီးပါရှိ၏။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ ○

အလွန်တရာ ကြင်နာသနားတော်မူသော၊
ကရုဏာတော်ရှင်ဖြစ်တော်မူသော၊
အလ္လာဟ်အရှင်မြတ်၏နာမံတော်ဖြင့် အစပြုပါ၏။

هَلْ اَتٰى عَلَى الْاِنْسَانِ حِيْنٌ مِّنَ الدَّهْرِ لَمْ يَكُنْ شَيْـًٔا مَّذْكُوْرًا ①

၁။ လူသား၏ အပေါ်ဝယ် ဒေဟ်ကာလအနက် အချိန်တစ်ချိန်သည် ကေန်အမှန်ရောက်ရှိခဲ့၏။ ထို လူသားသည် (ယင်းအချိန်၌) ပြောပလောက်သော၊ ကိုးကားရည်ညွှန်းလောက်သော၊ အရာဝတ္ထု တစ်စုံ တစ်ရာမျှပင် မဖြစ်ခဲ့ပေ။ [၁]

اِنَّا خَلَقْنَا الْاِنْسَانَ مِنْ نُّطْفَةٍ اَمْشَاجٍ ۖ نَّبْتَلِيْهِ فَجَعَلْنٰهُ سَمِيْعًا بَصِيْرًا ②

၂။ ကေန်စင်စစ် ငါအရှင်မြတ်သည် လူသားအား စမ်းသပ်လိုတော်မူသောအားဖြင့် ရောနှောပေါင်းစပ်သော ကလလရေကြည်ဖြင့်ဖန်ဆင်းတော်မူခဲ့၏။ [၂] သို့ဖြစ်ပေရာ ငါအရှင်မြတ်သည် ၎င်းအား ကြားသူ၊ မြင်သူ၊ ပြုလုပ်တော်မူခဲ့၏။ [၃]

---

(၁) ဆိုလိုသည်ကား လူသားအပေါ်တွင် အချိန်တစ်ချိန်ရောက်ရှိခဲ့ဖူး၏။ ထိုအချိန်တွင် လူသားသည် ရည်ညွှန်း ထုတ်ဖော် ပြောပြလောက်သည့် ဝတ္ထုပစ္စည်း တစ်စုံတစ်ရာ မဟုတ်ခဲ့ပေ၊ အမည်နာမ အရိပ်အမြွက်မျှပင် မရှိခဲ့ပေ။ ထို့နောက် ဒေဟ်အခါကာလ အချိန်သမယ အမျိုးမျိုးပြောင်းလဲကာ ကလလရေကြည်တစ်စက် ဖြစ်လာခဲ့၏။ ယင်းသည့် ကလလရေကြည်ဘဝသည်လည်း လူသား၏ လက်ရှိရရှိထားသည့် မြင့်မြတ်လှသည့် ဘဝအခြေအနေနှင့် နှိုင်းစာထောက်ထားလျှင် ထုတ်ဖော်ပြောပြလောက်သည် မဟုတ်သေးပေ။

(၂) "အမ်ရှားဂျ်"ဟူသောပုဒ်သည် ရောစပ်ထားသောအရာ၏ အနက်ပေးသည်။ ကလလရေကြည်သည် အမှန်မှာ အစာအာဟာရ အမျိုးမျိုး၊ ဓာတ်ပစ္စည်းအဖုံဖုံတို့၏ အဆီအနှစ် အချုပ်မျှသာဖြစ်သည်။ အချို့၏ယူဆချက်အရ ပေါင်းစပ်ထားသော ကလလရေကြည်ဟူသည် ကျား နှင့် မ၊ မိ နှင့် ဘ၏ နှစ်မျိုးနှစ်စားသော ကလလရေကြည် ပေါင်းစပ်ခြင်းကို ဆိုလိုသည်။ ကြည့်-အွတ်ဆ်မာနီ။ ကဗီရ်၊ ရာဃိဗ်။

(၃) ယင်းသို့အဆင့်ဆင့် ဖြစ်ရှိလာသော ကလလရေကြည်သည် အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်ဖြင့် သွေးစိုင်သွေးခဲဖြစ်လာ၏။ ထိုမှတစ်ဆင့် အသားတုံးဖြစ်လာ၏။ ထိုမှတစ်ဆင့် အဆင့်ဆင့်ပြောင်းကာ ➤➤

إِنَّا هَدَيْنَٰهُ ٱلسَّبِيلَ إِمَّا شَاكِرًا وَإِمَّا كَفُورًا ③

၃။ စင်စစ်ကေန် ငါအရှင်မြတ်သည် ၎င်းအား တရားလမ်းမှန်ကို ပြသတော်မူခဲ့၏။(ထို့နောက် ၎င်းမှာ) ကျေးဇူးသိတတ်သူသော်လည်းကောင်း၊ လွန်စွာ ကျေးဇူး ကန်းသူသော်လည်းကောင်း၊ ဖြစ်ခဲ့၏။ (တစ်နည်း) စင်စစ်ကေန် ငါအရှင်မြတ်သည် ထိုလူသားအား ၎င်းသည် ကျေးဇူးတင်သည်ဖြစ်စေ၊ ကျေးဇူးကန်းသည် ဖြစ်စေ၊ တရားလမ်းမှန်ကို ပြသတော်မူခဲ့၏။ [1]

إِنَّآ أَعْتَدْنَا لِلْكَٰفِرِينَ سَلَٰسِلَا۟ وَأَغْلَٰلًا وَسَعِيرًا ④

၄။ ကေန်မလွဲ ငါအရှင်မြတ်သည် 'ကာဖိရ်' သွေဖည်ငြင်းပယ်သောသူ၏အဖို့ သံကြိုးများကို လည်းကောင်း၊ လည်ကွင်းများကိုလည်းကောင်း၊ အလျှံပြောင်ပြောင် တောက်လောင်လျက်ရှိသောမီးကို လည်းကောင်း၊ အဆင်သင့်ပြုလုပ်ထားတော်မူ၏။ [2]

---

>> လူသားဖြစ်လာ၏။ ယခုမှ လူသားသည် အံ့ဖွယ်သရဲ မျက်စိများဖြင့် အရာရာကိုမြင်သည်၊ နားများဖြင့် အသံဟူသမျှကိုကြားသည်။ ဤကမ္ဘာတွင် လူတလုံးသူတလုံး ဖြစ်လျက်ရှိချေပြီ။ သတ္တဝါအပေါင်းတွင် အချိုးကျဆုံး၊ စွမ်းရည်သတ္တိအပြည့်ဝဆုံး၊ အမြင့်မြတ်ဆုံး ဖြစ်လျက်ရှိချေပြီ။

အများပညာရှင်များက ဤအာယတ်တော်တွင်ပါရှိသည့် (نبتليه) (နဗ်တလီဟိ) ဟူသောပုဒ်ကို "ငါအရှင်မြတ်သည် ထိုလူသားအား စမ်းသပ်တော်မူရန်" ဟူ၍ အနက်ဖွင့်ကြသည်။ ဆိုလိုသည်ကား ယင်းသို့ လူသားအား စွမ်းရည်သတ္တိများ ချီးမြှင့်တော်မူခြင်းမှာ လူသားသည် ယင်းသည့် စွမ်းရည်သတ္တိများကို အသုံးပြု၍ မိမိအရှင်သခင်အပေါ်၌ အဘယ်မျှသစ္စာရှိသည်၊ မရှိသည်၊ မိမိအရှင်သခင်၏ အမိန့်တော်နာခံသည်၊ မနာခံသည်ကို စမ်းသပ်တော်မူရန်ပင် ဖြစ်သည်ဟူ၏။

① အလ္လာဟ်အရှင်မြတ်သည် မိမိ၏ကျေးဇူးတော်ဖြင့် လူသား၌ မူလဗီဇတွင်ပင် အသိတရားကို ထည့်သွင်း ပေးထားတော်မူခဲ့၏။ ထို့ပြင်တဝ လူသားအား တရားလမ်းမှန် ညွှန်ပြရန်အလို့ငှာ တမန်တော်များအား စေလွှတ်ပေးတော်မူခဲ့၏၊ ကျမ်းဂန်များကိုလည်း ချပေးတော်မူခဲ့၏။ ယုတ္တိဒဋ္ဌိ၊ အာဂမဒဋ္ဌိ နှစ်လီသော အထောက်အထား သက်သေသာဓကများကိုလည်း ပြထားတော်မူခဲ့၏။ သို့ဖြစ်ရာ လူသားအားလုံးတို့သည် တရားလမ်းမှန်ကို ရရှိကြရန်သာရှိသည်။ သို့ပါသော်လည်း လူသားများသည် ပတ်ဝန်းကျင်၏ ဆွဲဆောင်မှု၊ သွေးဆောင်မှု၊ ဖြားယောင်းမှုများကြောင့် တရားလမ်းမှန်တစ်ခုတည်းအပေါ်၌ ရပ်တည်၍မနေနိုင်ခဲ့ကြပေ၊ အချို့လူသားတို့သည် အလ္လာဟ်အရှင်မြတ်အား ယုံကြည်မြတ်နိုးခဲ့ကြ၏။ ထိုအရှင်မြတ်၏ အမိန့်တော်များကို နာခံခဲ့ကြ၏။ ကျေးဇူးသစ္စာကို စောင့်သိရှိသေခဲ့ကြ၏။ အချို့သည် အလ္လာဟ်အရှင်မြတ်အား သွေဖည်သွားခဲ့ကြ၏။ ကျေးဇူးကန်းသွားကြ၏။ ဤသို့ဖြင့် လူသားများသည် ကျေးဇူးသိတတ်သူ၊ ကျေးဇူးကန်းသူဟူ၍ အုပ်စုနှစ်မျိုးနှစ်စား ကွဲပြားသွားခဲ့ကြ၏။ ရှေ့တွင် အုပ်စုအသီးသီး၏ အကျိုးဆက်ကို မိန့်ဆိုထားတော်မူသည်။

إِنَّ الْأَبْرَارَ يَشْرَبُونَ مِن كَأْسٍ كَانَ مِزَاجُهَا كَافُورًا ﴿٥﴾

၅။ ကေန်စင်စစ် သူတော်သူမြတ်တို့သည် ပရုတ်ရောစပ်ထားသောအရက် အပြည့်အလျှံရှိသောခွက်မှ သောက်သုံးကြပေမည်။ [၁]

عَيْنًا يَشْرَبُ بِهَا عِبَادُ اللَّهِ يُفَجِّرُونَهَا تَفْجِيرًا ﴿٦﴾

၆။ အလ္လာဟ်အရှင်မြတ်၏ (ထူးကဲမြင့်မြတ်သော) ကျွန်တို့သည် အကြင်စမ်းမှ၊ ထိုစမ်းမှ၊ သောက်သုံးကြပေမည်။ ၎င်းတို့သည် ယင်းစမ်းကို (အလိုရှိရာသို့) လွယ်လင့်တကူ စီးဆင်းစေကြပေမည်။ [၂]

---

(၂) ဆိုလိုသည်ကား ကာဖိရ်များသည် မိဘာရိုးရာထုံးတမ်းစဉ်လာတည်းဟူသော သံကြိုးများတွင် တုပ်နှောင်လျက်ရှိခဲ့ကြ၏။ အလ္လာဟ်အရှင်မြတ် မှတစ်ပါးဖြစ်သော သူတစ်ပါးတို့၏ အုပ်ချုပ်မှု၊ အမိန့်၊ အာဏာစက်တည်းဟူသော ကြိုးကွင်းများကို မိမိတို့၏ လည်ပင်းများမှ ထုတ်မပစ်နိုင်ခဲ့ကြပေ၊ ထို့ပြင်မက ယင်းကာဖိရ်များသည် အမှန်တရားကို ညွှန်ပြကြသော သူမွန်သူမြတ်တို့အား ဆန့်ကျင်ကာ၊ ရန်မီးများ၎ို အသက်ထက်ဆုံး မွေးထားခဲ့ကြ၏၊ မေ့မှား၍မှု အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်များကို သတိမရခဲ့ကြပေ။ ယင်းသို့သော ကာဖိရ်များအဖို့ အလ္လာဟ်အရှင်မြတ်သည်လည်း ယင်းတို့နှင့် ထိုက်တန်သည့် ပြစ်ဒဏ်များကိုပင် နောင်တမလွန်ဘဝတွင် အသင့်ပြုလုပ်ထားတော်မူခြင်း ဖြစ်သည်။ ဤသည် မည်သူမပြု မိမိမှုပင်။

(၁) အလ္လာဟ်အရှင်မြတ်သည် ကာဖိရ်များအဖို့ ၎င်းတို့နှင့် ထိုက်တန်သည့် ပြစ်ဒဏ်များကို နောင်တမလွန်ဘဝတွင် အသင့်ပြုလုပ်ထားတော်မူသကဲ့သို့၊ သူတော်သူမြတ်များအဖို့လည်း မိမိ၏ကျေးဇူးတော်ဖြင့် အတိုင်းမသိ ကောင်းမြတ်လှသော ဂျန္နတ် သုခများကို အသင့်စီစဉ်ထားတော်မူသည်။

ဤပစ္စက္ခရှိ "ကာဖူရ်" =ပရုတ်သည်ပင် အကျိုးများပြားလှ၏။ အနံ့အရသာ ထူးကဲလှ၏။ ဂျန္နတ်သားတို့ သောက်သုံးကြရမည့် ရသာရည်သည်လည်း ပရုတ်၏အနံ့အရသာနှင့် ရောစပ်လျက်ရှိပေမည်။ အနံ့အရသာကား အတိုင်းမသိ ထူးကဲကောင်းမြတ်လှပေမည်။ ဤတွင် သိထားအပ်သည်မှာ ဂျန္နတ်၏ပရုတ်သည် ဂျန္နတ်၏ပရုတ်ပင်၊ ဤပစ္စက္ခရှိ ပရုတ်နှင့် အသို့မှု မနှိုင်းယှဉ်အပ်ပေ။ အမည်သာလျှင် တူသည်၊ အနံ့အရသာကား မိုးမြေတမျှ ကွာခြားပေမည်။

(၂) ဂျန္နတ်တွင် ဂျန္နတ်သားတို့ သောက်သုံးကြမည့် စမ်းရေချောင်းသည် ဂျန္နတ်သားတို့၏ အမိန့်သြဇာအာဏာကို ဆောင်းလျက်ရှိပေမည်။ ဂျန္နတ်သားတို့သည် ယင်းစမ်းရေချောင်းကို မိမိတို့ အာသာဆန္ဒအလျောက် အလိုရှိရာသို့ စီးဆင်းစေကြပေမည်။ ဤသည်လည်း အတိုင်းမသိ ကြီးမားလှသော သုခတစ်ပါးပင်။

အချို့ကျမ်းချက်များအရ အဆိုပါစမ်းရေချောင်း၏ မူလအစသည် တမန်တော်မြတ်၏ ဘုံဗိမာန်တွင် တည်ရှိမည်၊ ထိုမှတစ်ဆင့် အခြားတမန်တော်များနှင့် မုအ်မင်န် သူတော်စင်များ၏ ဘုံဗိမာန်များသို့ အဆင့်ဆင့် စီးဆင်းလျက် ရှိပေမည်။

ရှေ့တွင် ဂျန္နတ်သို့ လားကြမည့် သူတော်သူမြတ်တို့၏ ဂုဏ်ရည်များကို မိန့်ဆိုထားတော်မူသည်။

يُوفُونَ بِالنَّذْرِ وَيَخَافُونَ يَوْمًا كَانَ شَرُّهُ مُسْتَطِيرًا ⑦

၇။ ထို(ထူးကဲမြင့်မြတ်သော) ကျွန်တို့မှာ (မိမိတို့၏)တာဝန်များကို ကျေပွန်စွာ ဆောင်ရွက်လေ့ရှိကြသည့်ပြင်၊ အကြင်နေ့ကိုလည်း စိုးရိမ်ကြောက်ရွံ့လေ့ရှိကြကုန်၏။ [၁] ထိုနေ့၏ ဘေးအန္တရာယ်မှာ ကျယ်ပြန့်စွာ ပြန့်နှံ့လျက်ရှိပေမည်။

وَيُطْعِمُونَ الطَّعَامَ عَلَىٰ حُبِّهِ مِسْكِينًا وَيَتِيمًا وَأَسِيرًا ⑧

၈။ ထိုမှတစ်ပါး ထိုသူတို့သည် အစားအစာကို ခုံမင်စုံမက်ကြလျက်နှင့်ပင် ထိုအရှင်မြတ်အား ချစ်ကြည် မြတ်နိုးသောကြောင့် သူဆင်းရဲတို့အားလည်းကောင်း၊ ဘမဲ့ကလေးသူငယ်တို့အားလည်းကောင်း၊ သုံ့ပန်းတို့အားလည်းကောင်း၊ ကျွေးမွေးကြကုန်၏။

إِنَّمَا نُطْعِمُكُمْ لِوَجْهِ اللَّهِ لَا نُرِيدُ مِنكُمْ جَزَاءً وَلَا شُكُورًا ⑨

၉။ (ထိုကျွန်များက) ကျွန်ုပ်တို့သည် အသင်တို့အား အလ္လာဟ်အရှင်မြတ်အား ရည်စူး၍သာလျှင် ကျွေးမွေးကြ၏။ ကျွန်ုပ်တို့သည် အသင်တို့ထံမှ မည်သည့် အကျိုးကျေးဇူးကိုမျှလည်းကောင်း၊ မည်သည့် ကျေးဇူးတင်ခြင်းကိုလည်းကောင်း၊ ရည်စူးကြသည် မဟုတ်ပေ။ [၂]

---

(၁) သူတော်သူမြတ်များသည် မိမိတို့၏စေတနာအလျောက် မိမိတို့အပေါ်၌ သတ်မှတ်ပြဋ္ဌာန်းထားကြသည့် တာဝန်များ၊ ကတိဝန်ခံချက်များကို ကျေပွန်စွာ ဆောင်ရွက်လေ့ရှိကြပေသည်။ မိမိတို့အပေါ်၌ မိမိတို့စေတနာအလျောက် သတ်မှတ်ပြဋ္ဌာန်းထားသော တာဝန်များနှင့် ကတိများကိုပင် ကျေပွန်စွာ ဆောင်ရွက်ကြသည်ဖြစ်ရာ၊ အလ္လာဟ်အရှင်မြတ်ဘက်တော်မှ သတ်မှတ်ပြဋ္ဌာန်းထားတော်မူသော တာဝန်များကိုမူ ဆိုဖွယ်ရာပင်မရှိပေ။

ဤအာယတ်တော်တွင်ပါရှိသည့် "နဇ်ရ်"ဟူသောပုဒ်တွင် အလ္လာဟ်အရှင်မြတ်ဘက်တော်မှ သတ်မှတ်အတည်ပြုထားတော်မူသော တာဝန်များ၊ လူသားတို့ မိမိတို့စေတနာအလျောက် မိမိတို့အပေါ်၌ သတ်မှတ်အတည်ပြုထားကြသည့် တာဝန်များအားလုံး အကျုံးဝင်ပေသည်၊ တစ်နည်းဆိုသော် ယင်းပုဒ်တွင် အီမာန်ယုံကြည်မှုနှင့်တကွ အမိန့်တော်နာခံမှုအစုစု အကျုံးဝင်ပေသည်။ ကြည့်-ကဗီရ်။

(၂) သူမွန်သူမြတ်တို့သည် အလ္လာဟ်အရှင်မြတ်အား ချစ်ကြည်မြတ်နိုးသောအားဖြင့် ထိုအရှင်မြတ်က မိမိတို့အား ချီးမြှင့်ထားတော်မူသည့် စားနပ်ရိက္ခာများအနက် အချို့အဝက်ကို သူဆင်းရဲ၊ မိတဆိုး၊ ဘတဆိုး၊ အကျဉ်းသားစသည်တို့အား စေတနာ သဒ္ဓါတရား ထက်သန်စွာဖြင့် ကျွေးမွေးပေးကမ်းလှူဒါန်းလေ့ရှိကြပေသည်။ ယင်းသို့ ပေးကမ်းလှူဒါန်းကြသည့်အတွက် တစ်စုံတစ်ရာ အကျိုးတုံ့ပြန်မှု၊ ကျေးဇူးတင်မှုများကိုလည်း လားလားမျှ မလိုလား မတောင့်တကြပေ။



إِنَّا نَخَافُ مِن رَّبِّنَا يَوْمًا عَبُوسًا قَمْطَرِيرًا ﴿١٠﴾

၁၀။ ဧကန်မလွဲ ကျွန်ုပ်တို့သည် ကျွန်ုပ်တို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်အထံတော်မှ ကြမ်းကြုတ်ခက်ထန်စွာသော နေ့ကို ကြောက်ရွံ့စိုးရိမ်ကြကုန်၏၊ (ဟုပြောပြကြကုန်၏။)

فَوَقَىٰهُمُ اللَّهُ شَرَّ ذَٰلِكَ الْيَوْمِ وَلَقَّىٰهُمْ نَضْرَةً وَسُرُورًا ﴿١١﴾

၁၁။ သို့ဖြစ်ပေရာ အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့အား ထိုနေ့၏ဘေးအန္တရာယ်မှ လွတ်ကင်းစေတော်မူပေမည်။ ၎င်းပြင် ထိုအရှင်မြတ်သည် ထိုသူတို့အား ရွှင်လန်းမှုနှင့်လည်းကောင်း၊ ဝမ်းမြောက် ပျော်ရွှင်မှုနှင့်လည်းကောင်း၊ တွေ့ကြုံစေတော်မူပေမည်။ [၁]

وَجَزَىٰهُم بِمَا صَبَرُوا جَنَّةً وَحَرِيرًا ﴿١٢﴾

၁၂။ ထိုမှတစ်ပါး ၎င်းတို့အား ထိုအရှင်မြတ်သည် သီးခံခြင်းတရား ထားရှိခဲ့ကြသောကြောင့် "ဂျန္နတ်" သုခဘုံကိုလည်းကောင်း၊ ပိုး(အဝတ်အစားများ) ကိုလည်းကောင်း၊ အစားပေးတော်မူအံ့သတည်း။

مُّتَّكِـِٔينَ فِيهَا عَلَى الْأَرَآئِكِ لَا يَرَوْنَ فِيهَا شَمْسًا وَلَا زَمْهَرِيرًا ﴿١٣﴾

၁၃။ (၎င်းတို့သည်) ယင်း "ဂျန္နတ်" သုခဘုံ၌ သလွန်များထက်ဝယ် (မှီအုံးများကို) မှီ၍ ထိုင်နေကြပေမည်။ ၎င်းတို့သည် ယင်း "ဂျန္နတ်" သုခဘုံ၌ နေ၏ အပူအရှိန်ကိုလည်းကောင်း၊ ခံရခက်သော အအေးကိုလည်းကောင်း၊ တွေ့ရှိကြမည်မဟုတ်ပေ။

---

➤➤ "အစိရ်" ဟူသောပုဒ်ကို သဘောထားကြီးစွာဖြင့်၊ အမြင်ကျယ်စွာဖြင့် ထို့ထက်ပင် ပိုမိုကျယ်ဝန်းစွာ အနက်ကောက်ယူပါက၊ ယင်းပုဒ်တွင် ကျေးကျွန်များနှင့် ကြွေးမြီခစီးပတ်တင်ရှိနေသော ဆင်းရဲသား များသည်ပင် အကျုံးဝင်လာနိုင်ပေသည်။ အဘယ့်ကြောင့်ဆိုသော် ယင်း ပုဂ္ဂိုလ်များသည်လည်း တစ်နည်းအားဖြင့် အကျဉ်းကျနေသူများပင် ဖြစ်ကြပေသည်။

(၁) အလ္လာဟ်အရှင်မြတ်သည် သူတော်သူမြတ်များအား ယင်းသို့ ကောင်းမွန်မြင့်မြတ်သော ဂုဏ်ရည်များကြောင့်ပင် ကိယာမတ်နေ့၏ ကြောက်မက်ဖွယ် ကောင်းလှဘိသော အန္တရာယ်ကြီးမှ ဖယ်ရှားတော်မူ၍ ပျော်ရွှင်မှု၊ ရွှင်လန်းမှု၊ သာယာမှု အစုစုတို့နှင့် ပြည့်နှက်လျက်ရှိသော ဂျန္နတ်သုခများနှင့် ဆုံဆည်း ပေးတော်မူခြင်းဖြစ်သည်။ ဤသည် ကောင်းမြတ်သောဂုဏ်ရည်၏ ကောင်းမြတ်သော အကျိုးဆက်ပင်။

၁၄။ ၎င်းပြင် ယင်း(ဂျန္နတ်သုခဘုံမှ) သစ်ပင်များမှာ ၎င်းတို့အပေါ်၌ ကိုင်းညွတ်လျက်ရှိကြပေမည်။ ထို့ပြင် ယင်း 'ဂျန္နတ်'တွင် အပြွတ်လိုက်သီးသော သစ်သီးဝလံတို့မှာ ညွတ်ကျလျက် ရှိကြပေမည်။

وَدَانِيَةً عَلَيْهِمْ ظِلَالُهَا وَذُلِّلَتْ قُطُوفُهَا تَذْلِيلًا ١٤

၁၅။ ထို့ပြင် ၎င်းတို့ထံ ငွေပန်းကန်များသည်လည်းကောင်း၊ ဖန်ခွက်များသည်လည်းကောင်း၊ လှည့်လည်ရောက်ရှိနေပေမည်။

وَيُطَافُ عَلَيْهِم بِآنِيَةٍ مِّن فِضَّةٍ وَأَكْوَابٍ كَانَتْ قَوَارِيرَا ١٥

၁၆။ ငွေဖြင့်ပြီးသော ဖန်များ ဖြစ်ကြပေမည်။ (ဖြည့်ထားသူတို့သည်) ယင်းဖန်ခွက်များကို သင့်လျော်စွာ ချိန်ဆ၍ ဖြည့်ထားကြပေမည်။

قَوَارِيرَا مِن فِضَّةٍ قَدَّرُوهَا تَقْدِيرًا ١٦

၁၇။ ထို့ပြင် ၎င်းတို့သည် ယင်း "ဂျန္နတ်"သုခဘုံ၌ ချင်းရောစပ်ထားသော အရက် အပြည့်အလျှံပါသော ခွက်များဖြင့် တိုက်ကျွေးခြင်းကို ခံကြရပေမည်။

وَيُسْقَوْنَ فِيهَا كَأْسًا كَانَ مِزَاجُهَا زَنجَبِيلًا ١٧

၁၈။ ယင်း'ဂျန္နတ်'သုခဘုံ၌ရှိသော 'စလ်စဗီလ်' ဟူ၍ အမည်သညာ မှည့်ခေါ်ခြင်းခံရသောစမ်းမှ။

عَيْنًا فِيهَا تُسَمَّىٰ سَلْسَبِيلًا ١٨

၁၉။ ထိုမှတစ်ပါး ၎င်းတို့ထံတွင် အသက်သေဆုံးခြင်းမရှိဘဲ အမြဲထာဝစဉ် နုငယ်လျက် ရှိကြရမည် ဖြစ်သော သူငယ်တို့သည် လှည့်ပတ်သွားလာ (ပြုစု) လျက်ရှိကြပေမည်။ အသင်သည် ၎င်းတို့အား တွေ့မြင်သောအခါ ၎င်းတို့မှာ ကြဲဖြန့်ထားသော ပုလဲများ ဖြစ်သည်ဟူ၍ပင် ထင်မှတ်ပေမည်။

وَيَطُوفُ عَلَيْهِمْ وِلْدَانٌ مُّخَلَّدُونَ إِذَا رَأَيْتَهُمْ حَسِبْتَهُمْ لُؤْلُؤًا مَّنثُورًا ١٩

၂၀။ ၎င်းပြင် အသင်သည် ထိုနေရာတွင် ကြည့်သောအခါ ထူးကဲ ကြီးကျယ်လှစွာသော စည်းစိမ်ကိုလည်းကောင်း၊ စိုးမိုးအုပ်ချုပ်မှု၊ ဂုဏ်ရည် အဆင့်အတန်းကိုလည်းကောင်း၊ တွေ့ရှိရပေမည်။

وَإِذَا رَأَيْتَ ثَمَّ رَأَيْتَ نَعِيمًا وَمُلْكًا كَبِيرًا ٢٠

عٰلِيَهُمْ ثِيَابُ سُنْدُسٍ خُضْرٌ وَّاِسْتَبْرَقٌ ۡوَّحُلُّوْٓا اَسَاوِرَ مِنْ فِضَّةٍ ۚ وَسَقٰىهُمْ رَبُّهُمْ شَرَابًا طَهُوْرًا ﴿٢١﴾

၂၁။ ၎င်းတို့(၏ ခန္ဓာကိုယ်များ)ပေါ်၌ အစိမ်းရောင် ပိုးထည်အပါးစား အဝတ်များသည်လည်းကောင်း၊ ပိုးထည်အထူစား၊ ရွှေခြည်ဖြင့် ပန်းထိုးထားသော ပိုးဇရိကိတ် အဝတ်များသည်လည်းကောင်း၊ ရှိကြပေမည်။ ထို့ပြင် ၎င်းတို့သည် ငွေလက်ကောက်၊ လက်ကြပ်များဖြင့် တန်ဆာဆင်ယင်ပေးခြင်းကိုလည်း ခံကြရပေမည်။ ထိုမှတစ်ပါး ၎င်းတို့ကို ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်သည် ၎င်းတို့အား လွန်စွာစင်ကြယ် သန့်ရှင်းသောအရက်ကို တိုက်ကျွေးတော်မူပေမည်။ [၁]

اِنَّ هٰذَا كَانَ لَكُمْ جَزَآءً وَّكَانَ سَعْيُكُمْ مَّشْكُوْرًا ﴿٢٢﴾

၂၂။ ကေန်မလွဲ ဤသည်ကား အသင်တို့အား (ချီးမြှင့်တော်မူသော) အကျိုးကျေးဇူးပင်ဖြစ်၏။ စင်စစ်သော်ကား အသင်တို့၏ ကြိုးပမ်းမှုသည် (အရှင်မြတ်အထံတော်၌) ကျေနပ် လက်ခံပြီး ဖြစ်ပေသတည်း။ [၂]

اِنَّا نَحْنُ نَزَّلْنَا عَلَيْكَ الْقُرْاٰنَ تَنْزِيْلًا ﴿٢٣﴾

၂၃။ (အို-နဗီတမန်တော်) မလွဲကေန် ငါအရှင်မြတ်သည်သာလျှင် အသင့်အပေါ်ဝယ် ကုရ်အာန်ကျမ်းတော်မြတ်ကို တဖြည်းဖြည်း ချပေးတော်မူခဲ့၏။

---

(၁) အလ္လာဟ်အရှင်မြတ်ကိုယ်တော်တိုင် ဂျန္နတ်သားတို့အား စင်ကြယ်သန့်ရှင်း အပြစ်ကင်းသော ရသာရေ၊ ရမကာရေကို တိုက်ကျွေးတော်မူမည်။ ဤသည် ဂျန္နတ်သားတို့အား အလ္လာဟ်အရှင်မြတ် မြှောက်စားတော်မူခြင်းပင်။ အရဗီဘာသာစာပေတွင် "ရှရားဗ်" ဟူသည် သောက်သုံးရာအားလုံးကို ဆိုသည်။ ကြည့်-ရာဃိဗ်။

အုရ်ဒူစာပေတွင် ခေါ်ဝေါ်သုံးနှုန်းလျက်ရှိသော မူးယစ်တွေဝေစေသော အကျင့်စာရိတ္တ ပျက်ပြားစေသော "ရှရားဗ်" နှင့် ဤအာယတ်တော်တွင်လာရှိသော "ရှရားဗ်"နှင့် လားလားမျှ မသက်ဆိုင်ပေ။ ကြည့်-မာဂျိဒီ၊ အစောင်(၇)၊ စာမျက်နှာ-၁၁၆၄၊ အောက်ခြေအမှတ်(၁၂)။

(၂) အလ္လာဟ်အရှင်မြတ်သည် မိမိ၏ကျေးဇူးတော်ဖြင့် ဂျန္နတ်သားတို့အား ဂျန္နတ်သုခအဝဝကို ချီးမြှင့်တော်မူပြီးနောက် ပိုမိုမြှောက်စားတော်မူရန်အလို့ငှာ အလ္လာဟ်အရှင်မြတ်ဘက်တော်မှ "ဤသည် အသင်တို့၏ အကျင့်သီလများ၏ အကျိုးဆက်ဖြစ်သည်၊ အသင်တို့၏ကြိုးပမ်းမှုသည် အောင်မြင်ပြီ၊ ငါအရှင်မြတ် လက်ခံတော်မူပြီ" ဟူ၍ ချီးကျူးသြဘာစကား မြွက်ကြားတော်မူပေမည်။ ထိုသည့် သြဘာစကားကို ➢➢

فَاصْبِرْ لِحُكْمِ رَبِّكَ وَلَا تُطِعْ مِنْهُمْ اٰثِمًا اَوْ كَفُوْرًا ﴿٢٤﴾

၂၄။ သို့ဖြစ်ပေရာ အသင်သည် အသင့်အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၏ အမိန့်တော်၏အပေါ်၌ ကြံ့ခိုင်စွာရပ်တည်၍နေပါလေ။ [၁] ၎င်းပြင် အသင်သည် ထိုသူတို့အနက်မှ မည်သည့် အပြစ်ကျူးလွန်သူ၏ပြောဆိုချက်ကိုမျှသော်လည်းကောင်း၊ မည်သည့် သွေဖည်ငြင်းပယ်သူ၏ ပြောဆိုချက်ကိုမျှသော်လည်းကောင်း၊ မလိုက်နာပါလေနှင့်။

وَاذْكُرِ اسْمَ رَبِّكَ بُكْرَةً وَّاَصِيْلًا ﴿٢٥﴾

၂၅။ ထို့ပြင်အသင်သည် နံနက်ယံ၌လည်းကောင်း၊ ညနေချမ်း၌လည်းကောင်း၊ အသင့်အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်၏ နာမံတော်ကို တသစီးဖြန်းပါလေ။

وَمِنَ الَّيْلِ فَاسْجُدْ لَهٗ وَسَبِّحْهُ لَيْلًا طَوِيْلًا ﴿٢٦﴾

၂၆။ တစ်ဖန် အသင်သည် ညဉ့်၏ အစိတ်အပိုင်းတစ်ခုခု၌လည်း ထိုအရှင်မြတ်အား "စဂျ်ဒဟ်" ပျပ်ဝပ်ဦးချပါလေ။ ထိုမှတစ်ပါး အသင်သည် ညဉ့်၏ရှည်လျားစွာသော အစိတ်အပိုင်း၌ ထိုအရှင်မြတ် စင်ကြယ်သန့်ရှင်းတော်မူကြောင်းကို မြွက်ဆိုပါလေ။ [၂]

---

➤➤ ကြားနာကြရသောအခါ ဂျန္နတ်သားတို့သည် အတိုင်းမသိ ပျော်ရွှင်ကြပေမည်။ ပီတိ ဖြစ်ကြပေမည်။ (ကျွန်တော်မျိုးတို့သည် ယင်း ဂျန္နတ်သားတို့တွင် အပါအဝင်ဖြစ်ကြရသည် ဖြစ်ပါစေ၊ အို-မဟာကရုဏာတော်ရှင်)။

① အလ္လာဟ်အရှင်မြတ်သည် ကုရ်အာန်ကျမ်းလာ အာယတ်တော်များကို တမန်တော်မြတ်ထံသို့ ကာလ၊ ဒေသ၊ အင်္ဂါ၊ အချိန်အခါကာလအားလျော်စွာ တဖြည်းဖြည်းချပေးတော်မူခဲ့၏။ ယင်းသို့ ချပေးတော်မူခြင်းအားဖြင့် တစ်ဘက်တွင် တမန်တော်မြတ်သည် ကြံ့ခိုင်တည်ကြည်စွာ ရပ်တည်တော်မူနိုင်ပေမည်၊ စိတ်နှလုံးတည်ငြိမ်ပေမည်။ အခြားတစ်ဘက်တွင် လူသားတို့သည် မိမိတို့၏ အဆိုးနှင့်အကောင်းကို ဝေဖန်ခွဲခြား၍ သိရှိလာကြပေမည်။ မည်သည့်အကျင့်သီလများကို စောင့်ထိန်းခြင်းဖြင့် ဂျန္နတ်သို့ ရောက်နိုင်သည်၊ မည်သည့်ပြစ်မှုများကို ကျူးလွန်ခြင်းကြောင့် ငရဲသို့လားနိုင်သည်များကိုလည်း သိရှိလာကြပေမည်။ သို့ ကုရ်အာန်ကျမ်းလာ တရားတော်များကို ကြားနာရပါလျက် အကယ်၍ မလိုက်နာကြလျှင် ၎င်းတို့၏ သဘောပင်၊ သို့ရာတွင် တမန်တော်မြတ်သည် မိမိအရှင်မြတ်၏ အမိန့်တော်အပေါ်၌ တည့်မတ်မှန်ကန်စွာ ရပ်တည်နေတော်မူရမည်သာ၊ နောက်ဆုံး အဆုံးအဖြတ်ကို စောင့်မျှော်နေတော်မူရမည်သာ။

② ဤအာယတ်တော်တွင် အလ္လာဟ်အရှင်မြတ်အား စင်ကြယ်သန့်ရှင်းတော်မူကြောင်း တသမြွက်ဆိုရန် အမိန့်တော်သည် အဘယ်နည်း။ ပထမအာယတ်တော်တွင်ပါရှိသော ညဉ့်အချိန် ပျပ်ဝပ်ဦးချမှုသည် ➤➤

إِنَّ هَٰٓؤُلَآءِ يُحِبُّونَ ٱلْعَاجِلَةَ وَيَذَرُونَ وَرَآءَهُمْ يَوْمًا ثَقِيلًا ۝٢٧

၂၇။ စင်စစ်ကေန် ဤသူတို့ကား လောကီဘဝကို နှစ်သက်ကြကုန်၏။ ထို့ပြင် ၎င်းတို့သည် ခက်ခဲကြီးလေးလှစွာသော နေ့တစ်နေ့ကိုမူ မိမိတို့၏ နောက်ဘွင် စွန့်ပစ်၍ထားကြကုန်၏။ (တစ်နည်း) သို့ရာတွင် မိမိတို့ရှေ့၌ (ကြုံကြိုက်အံ့သော) ခက်ခဲ လေးလံစွာသော နေ့တစ်နေ့ကိုမူ ၎င်းတို့သည် စွန့်ထားကြကုန်၏။ (လျစ်လျူပြုထားကြ၏။)

نَّحْنُ خَلَقْنَٰهُمْ وَشَدَدْنَآ أَسْرَهُمْ ۖ وَإِذَا شِئْنَا بَدَّلْنَآ أَمْثَٰلَهُمْ تَبْدِيلًا ۝٢٨

၂၈။ ငါအရှင်မြတ်သည်ပင် ၎င်းတို့အား ဖန်ဆင်းတော်မူခဲ့သည့်ပြင် ငါအရှင်မြတ်သည်ပင် ၎င်းတို့၏ (ခန္ဓာကိုယ်၏) အဆစ်အဆက် အဆစ်အပိုင်းတို့ကို (အကြောအခြင်များဖြင့် ချည်နှောင်၍) ခိုင်ခံ့တော်မူစေခဲ့၏။ ထိုမှတစ်ပါး ငါအရှင်မြတ်သည် အလိုရှိတော်မူသောအခါဝယ် ၎င်းတို့၏အစား ၎င်းတို့ကဲ့သို့သောသူတို့အား လဲလှယ်တော်မူပေမည်။

إِنَّ هَٰذِهِۦ تَذْكِرَةٌ ۖ فَمَن شَآءَ ٱتَّخَذَ إِلَىٰ رَبِّهِۦ سَبِيلًا ۝٢٩

၂၉။ ကေန်မလွဲ ဤ "စူရဟ်" ကဏ္ဍသည် ဆုံးမဩဝါဒပင်ဖြစ်၏။ သို့ဖြစ်ပေရာ မည်သူမဆို အလိုရှိပါလျှင် ၎င်းအား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်အထံတော်သို့ (သွားရာ)လမ်းကို ရွေးချယ်ရမည်သာ။ ၁

➤➤ "တဟဂျ်ဂျုဒ်" ကို ဆိုလိုပါက၊ ဤ အာယတ်တော်တွင်ပါရှိသော စင်ကြယ်သန့်ရှင်းကြောင်း တသမှုသည် ညဥ့်အချိန်တွင် "တဟဂျ်ဂျုဒ်" အပြင်၊ အလ္လာဟ်အရှင်မြတ်အား စင်ကြယ်သန့်ရှင်းတော်မူကြောင်းများစွာ တသ မြွက်ဆိုရမည်ဟူ၍ ဖြစ်ပေမည်။ အကယ်၍ ပထမ အာယတ်တော်တွင် ပါရှိသော ညဥ့်အချိန် ပျပ်ဝပ်ဦးချမှုသည် မဃ်ရိဗ်နှင့် အိရှာဆွလာတ်ကို ရည်ညွှန်းသည်ဆိုပါက၊ ဤအာယတ်တော်တွင် ပါရှိသော စင်ကြယ်သန့်ရှင်းတော်မူကြောင်း တသမြွက်ဆိုမှုသည် "တဟဂျ်ဂျုဒ်" ဆွလာတ်ကို ရည်ညွှန်းမည်ဟူ၍ ဆိုရပေမည်။

(၁) တမန်တော်မြတ်၌ သူတစ်ပါးအား အတင်းအဓမ္မ တရားရယူစေရန် တာဝန်မရှိ။ ကုရ်အာန်ကျမ်းမြတ်သည် အလွန်ထင်ရှား ပြတ်သားသော အဆုံးအမဩဝါဒဖြစ်သည်။ ယင်းကုရ်အာန်ကျမ်းမြတ်ဖြင့် သွန်သင်ဆုံးမဩဝါဒပေးတော်မူရန်သာ တာဝန်ရှိသည်။ သို့သွန်သင်ဆုံးမ ဩဝါဒပေးတော်မူပြီးသည့် နောက်ပိုင်းတွင် ➤➤

၃၀။ စင်စစ် အလ္လာဟ်အရှင်မြတ် အလိုရှိတော်မမူဘဲ အသင်တို့သည် အလိုရှိနိုင်ကြမည်မဟုတ်ပေ။ [၁] စင်စစ်ကေန် အလ္လာဟ်အရှင်မြတ်သည် (အရာခပ်သိမ်းတို့ကို) အကြွင်းမဲ့သိတော်မူသောအရှင်၊ နက်နဲသိမ်မွေ့သောဆင်ခြင်တုံတရားနှင့် ပြည့်စုံတော်မူသောအရှင်၊ ဖြစ်တော်မူ၏။ [၂]

وَمَا تَشَاءُونَ إِلَّا أَنْ يَشَاءَ اللَّهُ ۚ إِنَّ اللَّهَ كَانَ عَلِيمًا حَكِيمًا ﴿٣٠﴾

၃၁။ ထိုအရှင်မြတ်သည် မိမိ အလိုရှိတော်မူသောသူအား မိမိကရုဏာတော်အတွင်းဝယ် ဝင်ရောက်စေတော်မူ၏။ သို့ရာတွင် မတရားသောသူတို့အဖို့မှာမူကား၊ ထိုအရှင်မြတ်သည် နာကျင်ဖွယ်ဖြစ်သော ပြစ်ဒဏ်တော်ကို အဆင်သင့်ပြုလုပ်၍ ထားရှိတော်မူပြီးဖြစ်ပေသည်တကား။

يُدْخِلُ مَنْ يَشَاءُ فِي رَحْمَتِهِ ۚ وَالظَّالِمِينَ أَعَدَّ لَهُمْ عَذَابًا أَلِيمًا ﴿٣١﴾

---

➤➤ မည်သူမဆို အလိုရှိက ယင်းကျမ်းမြတ်ကို လက်ကိုင်ထား၍ အလ္လာဟ်အရှင်မြတ်၏ နှစ်သက်မှုကို ရယူနိုင်ပေသည်။ ဤသည် သက်ဆိုင်ရာပုဂ္ဂိုလ်၏ အလိုဆန္ဒအတိုင်းပင်ဖြစ်သည်။

(၁) ဤသဘောပါရှိပြီးဖြစ်သည်။ ကြည့်-ကုရ်အာန်(၇၄:၅၆)

(၂) အလ္လာဟ်အရှင်မြတ်သည် အားလုံး သိတော်မူသည်၊ ဆင်ခြင်တုံတရားနှင့် ပြည့်စုံတော်မူသည်။ ထိုအရှင်မြတ်သည် လူတိုင်း၏ အရည်အချင်း စွမ်းရည်သတ္တိကို အကြွင်းမဲ့သိတော်မူသည်၊ လူတိုင်းနှင့်ပတ်သက်၍ ထိုအရှင်မြတ်၏အဆုံးအဖြတ်သည် တော်တည့်၊ မှန်ကန်၊ လျော်ကန် သင့်မြတ်သည်သာ ဖြစ်သည်။ အလ္လာဟ်အရှင်မြတ်သည် တစ်ဦးတစ်ယောက်အား ကရုဏာပြုတော်မူအံ့၊ ဤသည်လည်း မှန်ကန်သည်သာ ဖြစ်သည်၊ ထိုအရှင်မြတ်သည် တစ်ဦးတစ်ယောက်အား ပြစ်ဒဏ်ပေးတော်မူအံ့၊ ဤသည်လည်း မှန်ကန်သည်သာ ဖြစ်သည်။ အလ္လာဟ်အရှင်မြတ်သည် အားလုံး သိတော်မူရာ၊ ဆင်ခြင်တုံတရားနှင့် ပြည့်စုံတော်မူပြီး၊ ထိုအရှင်မြတ် ပြုစီရင်တော်မူသမျှသည် အဘယ်မှာလျှင် မှားယွင်းနိုင်အံ့နည်း။

# စေလွှတ်ခြင်းခံရသောလေများကဏ္ဍ




ဤကဏ္ဍသည် "မုရ်စလာတ်" "စေလွှတ်ခြင်းခံရသောလေများ" ကဏ္ဍမည်၏။ မက္ကာမြို့တော်၌ ကျရောက်ခဲ့၏။ ဤကဏ္ဍတွင် အာယတ်တော်အပါး(၅၀)၊ ရကူအ်အပိုဒ်(၂)ပိုဒ်၊ အသီးသီးပါရှိ၏။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ

အလွန်တရာ ကြင်နာသနားတော်မူသော၊ ကရုဏာတော်ရှင်ဖြစ်တော်မူသော၊ အလ္လာဟ်အရှင်မြတ်၏နာမံတော်ဖြင့် အစပြုပါ၏။

وَالْمُرْسَلٰتِ عُرْفًا ①

၁။ (ငါအရှင်မြတ်သည်) အကျိုးဖြစ်စေအံ့သောငှာ စေလွှတ်ခြင်းခံရသောလေများကို၊ စေလွှတ်ခြင်းခံရသော၊ ဆက်တိုက်၊ တိုက်ခတ်သောလေများကို သက်သေထူတော်မူ၏။

فَالْعٰصِفٰتِ عَصْفًا ②

၂။ တစ်ဖန် (ငါအရှင်မြတ်သည်) ပြင်းထန်စွာ တိုက်ခတ်သောလေများကိုသက်သေထူတော်မူ၏။ [၁]

وَّالنّٰشِرٰتِ نَشْرًا ③

၃။ ထို့ပြင် (ငါအရှင်မြတ်သည်) တိမ်များကို ပြန့်နှံ့စေသောလေများကို သက်သေထူတော်မူ၏။

فَالْفٰرِقٰتِ فَرْقًا ④

၄။ တစ်ဖန် (ငါအရှင်မြတ်သည် ယင်းတိမ်များကို) ကစဉ့်ကလျားဖြစ်စေသော လေများကို သက်သေထူတော်မူ၏။

---

(၁) လေသည် ပထမသော် သာယာဖြည်းညှင်းစွာ တိုက်ခတ်၏။ ထိုအခါ လူများသည် မျှော်လင့်ချက်ကြီးငယ်များ ထားရှိကြ၏။ ထို့နောက် အတန်ကြာသော် လေသည် ပြင်းထန်စွာ တိုက်ခတ်လာ၏၊ မုန်တိုင်းကျလာ၏။ ထိုအခါ လူများသည် စိုးရိမ်ကြောက်ရွံ့လာကြ၏။ နောင်တမလွန်နှင့် ဤပစ္စက္ခသည်လည်း ဤနည်းပမာပင်။ လူများသည် ဤပစ္စက္ခတွင် အချို့ကိစ္စများကို အကျိုးရှိသည်ဟု ထင်မှတ်ကြ၏။ ယင်းကိစ္စများနှင့်စပ်လျဉ်း၍ မျှော်လင့်ချက်ကြီးငယ်များ ထားရှိကြ၏။ သို့ရာတွင် ယင်းကိစ္စများသည် ကိယာမတ်နေ့တွင် ဖြစ်ရပ်မှန်အတိုင်း ကြောက်ရွံ့ဖွယ်ရာများအဖြစ်နှင့် ပေါ်လွင်ထင်ရှားလာသည့်အခါ၊ လူများသည် အကြောက်ကြီးကြောက်ကြပေမည်၊ အလန့်ကြီးလန့်ကြပေမည်။

فَالْمُلْقِيٰتِ ذِكْرًا ۝٥

၅။ တစ်ဖန် (ငါအရှင်မြတ်သည် စိတ်နှလုံးများတွင် အလ္လာဟ်အရှင်မြတ်အား) အောက်မေ့တသသတိရမှု ထည့်သွင်းပေးသောလေများကို သက်သေထူတော်မူ၏။

عُذْرًا اَوْ نُذْرًا ۝٦

၆။ ဝန်ချ တောင်းပန်ရန်သော်လည်းကောင်း၊ သတိပေးနှိုးဆော်ရန်သော်လည်းကောင်း၊ (တစ်နည်း) အကြောင်းပြချက် မပြုနိုင်ရန်သော်လည်းကောင်း၊ သတိပေး နှိုးဆော်ရန်သော်လည်းကောင်း။ [၁]

اِنَّمَا تُوْعَدُوْنَ لَوَاقِعٌ ۝٧

၇။ ကေန်မလွဲ အသင်တို့ ချိန်းဆိုခြင်းခံကြရသော ချိန်းဆိုချက်မှာ အမှန်ပင် ဆိုက်လာမည်ဖြစ်၏။

فَاِذَا النُّجُوْمُ طُمِسَتْ ۝٨

၈။ စင်စစ်သော်ကား အကြင်ခါဝယ် ကြယ်နက္ခတ်တို့သည် ကွယ်ပျောက်၍သွားကြရပေမည်။ (တစ်နည်း) ကြယ်နက္ခတ်တို့၏အလင်းရောင်မှာ မှေးမှိန်၍ သွားရပေမည်။

---

(၁) ဤအာယတ်တော်နှင့်စပ်လျဉ်း၍ ရှားဟ်အဗ်ဒူလ်အဇီဇ် သခင်က အောက်ပါအတိုင်း ဖွင့်ဆိုထားသည်။

(၁) (ဝဟီ)ထုတ်ပြန်ပို့ချတော်မူခြင်းဖြင့် ကာဖိရ်များ ဆင်ခြေမလဲနိုင်ရန်နှင့် (အီမာန်) သက်ဝင် ယုံကြည်သော မုအ်မင်န်များ သတိတရား ရကြရန်ပင်ဖြစ်သည်။

(၂) အချို့အာယတ်တော်များတွင် ကျင့်ရန်၊ ကြဉ်ရန် တရားများ၊ ယုံကြည်ချက်များ၊ အမိန့်တော်များ ပါရှိ၏။ ယင်းသို့သော အာယတ်တော်များသည် အကြောင်းပြရန်ဖြစ်သည်၊ စာကြောမေးမြန်းကြသည့်အခါ သက်ဆိုင်ရာပုဂ္ဂိုလ်က ကျွန်တော်မျိုးသည် အဘယ်ကိစ္စကို အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်အရ ပြုလုပ်ခြင်းဖြစ်ပါသည်။ အဘယ်ကိစ္စကို အလ္လာဟ်အရှင်မြတ်၏ တားမြစ်ချက်အရ ကြဉ်ရှောင်ခြင်း ဖြစ်ပါသည် ဟူ၍ ဖြေဆိုအကြောင်းပြနိုင်ရန်ဖြစ်သည်။

အချို့အာယတ်တော်များတွင် အတိတ်ခေတ် ဖြစ်စဉ်ဖြစ်ရပ်များ၊ အတ္တုပ္ပတ္တိများ၊ အနာဂတ်နှင့် စပ်လျဉ်းသည့် ဟောကြားချက်များ၊ သတင်းများ ပါရှိ၏။ ယင်းသို့သော အာယတ်တော်များသည် အများအားဖြင့် မယုံကြည်သူများအား သတိပေးရန် ကြောက်ရွံ့စေရန်အတွက် ဖြစ်သည်။

ဤကဏ္ဍတွင် များသောအားဖြင့် မယုံကြည်သူများကိုပင် ရည်ညွှန်းမိန့်ဆိုထားတော်မူသည်။

အသို့ရှိစေ (ဝဟီ) အာယတ်တော်များကို ယူဆောင်လာသော ကောင်းကင်တမန်များနှင့် (ဝဟီ) အာယတ်တော်များ၏ အသံကို သက်ဆိုင်ရာတို့ထံ ပို့ပေးသော လေများ သက်သေဖြစ်ကြသည်မှာ၊ ➤➤

وَإِذَا السَّمَاءُ فُرِجَتْ ۝٩
၉။ ၎င်းပြင် အကြင်အခါဝယ် မိုးကောင်းကင်သည် အက်ကွဲ၍ သွားရပေမည်။

وَإِذَا الْجِبَالُ نُسِفَتْ ۝١٠
၁၀။ ထို့ပြင် အကြင်အခါဝယ် တောင်များသည် အမြစ်မှ လှန်ပစ်ခြင်းကို ခံခဲ့ကြရ(ပြီးလျှင် အစိတ်စိတ်အပိုင်းပိုင်းဖြစ်ကာ လေထဲ၌ လွင့်ပါးလျက်ရှိကြရ)ပေမည်။

وَإِذَا الرُّسُلُ أُقِّتَتْ ۝١١
၁၁။ ထိုမှတစ်ပါး အကြင်အခါဝယ် (ရစူလ်)တမန်တော်များသည် (သတ်မှတ်ထားသော) အချိန်၌ လာရောက်စုရုံးကြရပေမည်။

لِأَيِّ يَوْمٍ أُجِّلَتْ ۝١٢
၁၂။ ယင်း (အရေးကိစ္စတို့သည်) မည်သည့်နေ့ရက်သို့ ရွှေ့ဆိုင်းခြင်း ခံခဲ့ရသနည်း။

لِيَوْمِ الْفَصْلِ ۝١٣
၁၃။ စီရင်ဆုံးဖြတ်မည့် နေ့သို့ (ရွှေ့ဆိုင်းခြင်းခံခဲ့ရလေ၏။) ၁

وَمَا أَدْرَاكَ مَا يَوْمُ الْفَصْلِ ۝١٤
၁၄။ စင်စစ်သော်ကား (အို–နဗီတမန်တော်)၊ စီရင်ဆုံးဖြတ်မည့်နေ့သည် အဘယ်နည်းဟူ၍ အသင်သိပါသလော။

وَيْلٌ يَوْمَئِذٍ لِّلْمُكَذِّبِينَ ۝١٥
၁၅။ ထိုနေ့တွင်မူကား မဟုတ်မမှန်ဟူ၍ စွပ်စွဲငြင်းပယ်ကြကုန်သောသူတို့၌ (အကြီးအကျယ်) ပျက်စီးမှုသည် ရှိချေအံ့သတည်း။ ၂

>> မကြာမီအတွင်း အချိန်တစ်ချိန်မှချ ဆိုက်ရောက်လာမည်ပင်ဖြစ်သည်။ ထိုအခါ ပြစ်မှုကျူးလွန်သောသူများသည် ပြစ်ဒဏ်စီရင်ခြင်း ခံကြရပေမည်။ အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ရှိသေ ခန့်ညားကာ ပြစ်မှုများကို ကြဉ်ရှောင်သော ပုဂ္ဂိုလ်များမှာမူ အန္တရာယ်ခပ်သိမ်း ကင်းငြိမ်းကြပေမည်။

(၁) အရေးကိစ္စအဝဝကို မည်သည့်နေ့ရက်အတွက် ယခုကဲ့သို့ ရွှေ့ဆိုင်းထားသနည်း။ ထိုနေ့တွင် အလ္လာဟ်အရှင်မြတ်သည် အရေးကိစ္စအဝဝနှင့် စပ်လျဉ်း၍ နောက်ဆုံးယတိပြတ် အဆုံးအဖြတ် ပေးတော်မူမည်ဖြစ်ပေသည်။ အလ္လာဟ်အရှင်မြတ် အလိုတော်ရှိပါက ယခု ချက်ချင်းလက်ငင်းပင် အဆုံးအဖြတ် ပေးတော်မူနိုင်ပေသည်။ သို့ရာတွင် ယင်းသို့ ရွှေ့ဆိုင်းထားတော်မူခြင်းမှာလည်း အလ္လာဟ်အရှင်မြတ်၏ အလိုတော်အရပင်ဖြစ်သည်။

أَلَمْ نُهْلِكِ الْأَوَّلِينَ ﴿١٦﴾

၁၆။ ငါအရှင်မြတ်သည် ရှေးသူဟောင်းတို့အား ပျက်စီးစေတော်မူခဲ့သည် မဟုတ်လော။

ثُمَّ نُتْبِعُهُمُ الْآخِرِينَ ﴿١٧﴾

၁၇။ ထို့နောက်တစ်ဖန် ငါအရှင်မြတ်သည် နောင်လာနောက်သားတို့အားလည်း ထိုရှေးသူဟောင်းတို့၏ နောက်သို့ပင် လိုက်စေတော်မူမည်ဖြစ်၏။ [၁]

كَذَٰلِكَ نَفْعَلُ بِالْمُجْرِمِينَ ﴿١٨﴾

၁၈။ ငါအရှင်မြတ်သည် ပြစ်မှုကျူးလွန်သူတို့အား ဤအတိုင်း ပြုလုပ်တော်မူလေ့ရှိ၏။

وَيْلٌ يَوْمَئِذٍ لِّلْمُكَذِّبِينَ ﴿١٩﴾

၁၉။ ထိုနေ့တွင် မဟုတ်မမှန်ဟူ၍ စွပ်စွဲငြင်းပယ်ကြကုန်သောသူတို့၌ (အကြီးအကျယ်)ပျက်စီးမှုသည် ရှိပေမည်။

---

(၂) အဆုံးအဖြတ်ပေးတော်မူမည့် နေ့ကား အဘယ်နည်း။ ထိုနေ့ကား အမှန်တရားကို မဟုတ်မမှန်ဟူ၍ ယိုးစွပ်ငြင်းပယ်ခဲ့ကြသော မုသာဝါဒီများ ပျက်စီးခြင်းကြီးမလု ပျက်စီးကြရမည့် နေ့ပင်။ ထိုနေ့တွင် ၎င်းတို့ အသက်ထက်ဆုံး ဖွတ်မိုတ် ငြင်းပယ်နေခဲ့ကြသော အရာများသည် အထင်းသား၊ အမြင်သား၊ အထင်အရှား ပေါ်လွင်လာပေမည်၊ ထို့အတွက် အရှက်တကွဲ အကျိုးနည်း ဖြစ်ကြရပေမည်။ ကျူးလွန်ပြစ်မှားခဲ့ကြသည့် ပြစ်မှုကြီးငယ်များ၏ ပြစ်ဒဏ်ကို မရှုမလှ ခံကြရပေမည်။

(၁) ကိယာမတ်ကို မယုံကြည်သူများက ဤမျှ အတိုင်းမသိ ကြီးမားသော စကြာဝဠာကြီးသည် အသို့လျှင် ချုပ်ငြိမ်းနိုင်အံ့နည်း၊ လူသားအားလုံးတို့သည် တစ်ချိန်တည်း အသို့လျှင် သေဆုံးကုန်နိုင်ကြအံ့နည်း။လူ့အဆက်သည် အသို့လျှင် ဆိတ်သုဉ်းသွားနိုင်အံ့နည်း၊ ကိယာမတ်၊ ဂျန္နတ်၊ ဂျဟန္နမ် စသည်များသည် လုပ်ဇာတ်များသာ ဖြစ်သည်ဟူ၍ ထင်မှတ်ပြောဆိုနေကြ၏။

၎င်းတို့သိထားအပ်ကြသည်မှာ အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့အလျင် မြောက်မြားစွာသောသူများကို ၎င်းတို့၏ပြစ်မှုများကြောင့် ကွပ်မျက်တော်မူခဲ့လေပြီ၊ အတိတ်ခေတ်များတွင် မြောက်မြားစွာသော သူများကို သေစေတော်မူခဲ့လေပြီ။ ယခုလည်း အလ္လာဟ်အရှင်မြတ်သည် ကွပ်မျက်တော်မူလျက်၊ သေစေတော်မူလျက်ပင်။

ကွပ်မျက်မှု သေစေမှု အစဉ်အလာသည် ယခုလည်းရှိလျက်ပင်၊ ဤသည်ကို ၎င်းတို့အသိပင်။ အလ္လာဟ်အရှင်မြတ်သည် အတိတ်ခေတ်များတွင် ပြစ်မှုကျူးလွန်သူတို့အား ကွပ်မျက်တော်မူလေ့ရှိခဲ့ပေရာ၊ ယခုခေတ်တွင် ပြစ်မှုကျူးလွန်သူတို့အားလည်း ယခင်အစဉ်အလာအတိုင်း ကွပ်မျက်တော်မူမည်ပင်။

အလ္လာဟ်အရှင်မြတ်သည် ခေတ်အသီးသီးတွင် အလွန်တန်ခိုးအာဏာ ကြီးမားခဲ့သော၊ မောက်မာပလွားခဲ့သော၊ ဆူပူသောင်းကျန်းခဲ့သော သူယုတ်မာကြီးငယ်တို့အား ကွပ်မျက်တော်မူနိုင်ခဲ့သည်ဖြစ်ရာ၊ သတ္တဝါအပေါင်းတို့ကို တစ်ချိန်တည်းတွင် အသို့လျှင် သေစေတော်မမူနိုင်ဘဲ ရှိအံ့နည်း၊ သူယုတ်မာအားလုံးကို တစ်ချိန်တည်း အသို့လျှင် ကွပ်မျက်တော်မမူနိုင်ဘဲရှိအံ့နည်း။

| | |
|---|---|
| ၂၀။ ငါအရှင်မြတ်သည် အသင်တို့အား ယုတ်ညံ့သောရေဖြင့် ဖန်ဆင်းတော်မူခဲ့သည် မဟုတ်လော။ | أَلَمْ نَخْلُقكُّم مِّن مَّآءٍ مَّهِينٍ ﴿٢٠﴾ |
| ၂၁။ တစ်ဖန် ငါအရှင်မြတ်သည် ထိုရေကို လုံခြုံသောနေရာ၌ ထားရှိတော်မူခဲ့၏။ [၁] | فَجَعَلْنَٰهُ فِى قَرَارٍ مَّكِينٍ ﴿٢١﴾ |
| ၂၂။ သတ်မှတ်ပြီးဖြစ်သော အချိန်ကာလတိုင်အောင်။ | إِلَىٰ قَدَرٍ مَّعْلُومٍ ﴿٢٢﴾ |
| ၂၃။ တစ်ဖန် ငါအရှင်မြတ်သည် စနစ်တကျ စီမံပြုပြင် ချိန်ဆခန့်မှန်းတော်မူခဲ့ရာ စင်စစ် (ငါအရှင်မြတ်သည်) အဘယ်မျှ ကောင်းမြတ်သော စီမံပြုပြင် ချိန်ဆ ခန့်မှန်းတော်မူသောအရှင်၊ ဖြစ်တော်မူပါသနည်း။ [၂] | فَقَدَرْنَا فَنِعْمَ ٱلْقَٰدِرُونَ ﴿٢٣﴾ |
| ၂၄။ ထိုနေ့တွင် မဟုတ်မမှန်ဟူ၍ စွပ်စွဲငြင်းပယ်ကြကုန်သောသူတို့၌ (အကြီးအကျယ်) ပျက်စီးမှု သည် ရှိပေမည်။ | وَيْلٌ يَوْمَئِذٍ لِّلْمُكَذِّبِينَ ﴿٢٤﴾ |

---

(၁) ဤအာယတ်တော်တွင် လုံခြုံသောနေရာဟူသည် မိခင်၏ဝမ်းဗိုက်တွင်းရှိ "သားအိမ်"ကို ဆိုလိုသည်။ လူသားတစ်ဦးသည် မိမိကိုယ်တိုင် အမိ၏ဝမ်းဗိုက်တွင်းရှိ ထူးထွေဆန်းပြားလှသည့် သားအိမ်တွင် (၉)လကျော် (၁၀)လနီးပါး မည်သို့မည်ပုံ နေခဲ့သည်ကိုပင် စဉ်းစားဆင်ခြင် တွေးမြင်ပါက၊ အလ္လာဟ်အရှင်မြတ်၏ တန်ခိုးတော်ကို သိရှိလာပေမည်။ ကိယာမတ်ကိုလည်း ယုံကြည်လာပေမည်။

(၂) အလ္လာဟ်အရှင်မြတ်သည် လူသားအား ကလလရေကြည်တစ်စက်မှ စတင်၍ တဖြည်းဖြည်း အဆင့်ဆင့် ပြုစုပျိုးထောင်လာပြီး လူတလုံးသူတလုံးဖြစ်အောင် ဖန်ဆင်းတော်မူ၏။ ဤပစ္စက္ခတွင် အမြင့်မြတ်ဆုံးဘဝသို့ မြှင့်တင်ပေးထားတော်မူ၏။ ယင်းသို့ ပြုစွမ်းတော်မူနိုင်သော အရှင်တစ်ပါးသည် လူသားအား သေပြီးနောက် ပြန်လည်ရှင်ထစေတော်မူနိုင်မည် မဟုတ်ပါလော။

အချို့က ဤအာယတ်တော်တွင် ( قَدَرْنَا ) "ကဒရ်နာ" ဟူသောပုဒ်ကို "ငါအရှင်မြတ်သည် စနစ်တကျ ချိန်ဆ စီမံထားတော်မူသည်" ဟူ၍ အနက်ပြန်ကြသည်။ ဆိုလိုသည်ကား အလ္လာဟ်အရှင်မြတ်သည် လူသားအား ရုပ်ပိုင်းဘက်တွင်လည်းကောင်း၊ နာမ်ပိုင်းဘက်တွင်လည်းကောင်း၊ အပိုအလိုမရှိ၊ အချိုးကျကျ၊ အဆင်းလှလှ၊ အရည်အချင်း အပြည့်အဝ၊ အံ့ဖွယ်သရဲ ချင့်ချိန်၍ ဖန်ဆင်းထားတော်မူသည်။ အလ္လာဟ်အရှင်မြတ်၏ ချင့်ချိန်လျာထားမှုတွင် ပိုသည်လည်းမရှိ၊ လိုသည်လည်းမရှိ၊ နုတ်ပယ်ရန်လည်း မရှိ၊ ဖြည့်စွက်ရန်လည်းမရှိ။ အလ္လာဟ်အရှင်မြတ်၏ ချင့်ချိန်လျာထားမှုကား ကောင်းမြတ်လှပါဘိတကား။

أَلَمْ نَجْعَلِ الْأَرْضَ كِفَاتًا ﴿٢٥﴾

၂၅။ ငါအရှင်မြတ်သည် ပထဝီမြေကို စုရုံးပေါင်းစပ်ရာနေရာဌာန၊ စုရုံးပေါင်းစပ်သောအရာ၊ ပြုလုပ်တော်မူခဲ့သည်မဟုတ်လော။

أَحْيَاءً وَأَمْوَاتًا ﴿٢٦﴾

၂၆။ အသက်ရှင်သူတို့အားလည်းကောင်း၊ သူသေတို့အားလည်းကောင်း၊

وَجَعَلْنَا فِيهَا رَوَاسِيَ شَامِخَاتٍ وَأَسْقَيْنَاكُم مَّاءً فُرَاتًا ﴿٢٧﴾

၂၇။ ထိုမှတစ်ပါး ငါအရှင်မြတ်သည် ယင်းပထဝီမြေဝယ် မြင့်စွင့်လှစွာသော တောင်များကို (နေရာတကျ) စိုက်ထူတော်မူသည်။ ၎င်းပြင် ငါအရှင်မြတ်သည် အသင်တို့အား ချိုမြသောရေကို တိုက်ကျွေးတော်မူသည်။

وَيْلٌ يَوْمَئِذٍ لِّلْمُكَذِّبِينَ ﴿٢٨﴾

၂၈။ ထိုနေ့တွင် မဟုတ်မမှန်ဟူ၍ စွပ်စွဲငြင်းပယ်ကြကုန်သောသူတို့၌ (ကြီးကျယ်လှစွာ)သော ပျက်စီးမှုသည် ရှိချေမည်သာတည်း။

انطَلِقُوا إِلَىٰ مَا كُنتُم بِهِ تُكَذِّبُونَ ﴿٢٩﴾

၂၉။ အသင်တို့သည် မဟုတ်မမှန်ဟူ၍ မိမိတို့ စွပ်စွဲငြင်းပယ်လျက် ရှိခဲ့ကြသော (ပြစ်ဒဏ်)ရှိရာသို့ လျှောက်၍ သွားကြလေကုန်။

انطَلِقُوا إِلَىٰ ظِلٍّ ذِي ثَلَاثِ شُعَبٍ ﴿٣٠﴾

၃၀။ အသင်တို့သည် အကိုင်းသုံးကိုင်း ခွဲထွက် သော အရိပ်ဆာယာ(အောက်)သို့ လျှောက်သွားကြလေကုန်၏။

لَّا ظَلِيلٍ وَلَا يُغْنِي مِنَ اللَّهَبِ ﴿٣١﴾

၃၁။ (ယင်းအရိပ်တွင်) သက်သာမှုလည်း ရှိမည် မဟုတ်ပေ။ မီးတောက်မီးလျှံ(၏ အရှိန်မှ) ကာကွယ်မည်လည်း မဟုတ်ပေ။ [၁]

(၁) ကိယာမတ်နေ့ကို မယုံကြည်သူများအား ကိယာမတ်နေ့တွင် သက်ဆိုင်ရာကောင်းကင်တမန်များက ဤအာယတ်တော်တွင် လာရှိသည့်အတိုင်း ပြောဆိုကြိမ်းမောင်းကြပေမည်။ ➢➢

إِنَّهَا تَرْمِي بِشَرَرٍ كَالْقَصْرِ ﴿٣٢﴾

၃၂။ ဧကန်အမှန် ယင်းမီးသည် အဆောက်အအုံကြီးများ ပမာရှိသော မီးပွင့်မီးပွားများကို ပေါက်ထွက်စေမည်။

كَأَنَّهُ جِمَالَتٌ صُفْرٌ ﴿٣٣﴾

၃၃။ ယင်းမီးပွင့်မီးပွားများမှာ အဝါရောင်ရှိသော ကုလားအုပ်များကဲ့သို့ ရှိကြပေမည်။ ၁

وَيْلٌ يَوْمَئِذٍ لِّلْمُكَذِّبِينَ ﴿٣٤﴾

၃၄။ ထိုနေ့တွင် မဟုတ်မမှန်ဟူ၍ စွပ်စွဲငြင်းပယ်ကြကုန်သောသူတို့၌ (ကြီးကျယ်လှစွာသော) ပျက်စီးမှုသည် ရှိပေမည်။

هَٰذَا يَوْمُ لَا يَنطِقُونَ ﴿٣٥﴾

၃၅။ ဤနေ့သည် ၎င်းတို့ စကားပြောဆိုခြင်း မပြုနိုင်သောနေ့ပင်။

وَلَا يُؤْذَنُ لَهُمْ فَيَعْتَذِرُونَ ﴿٣٦﴾

၃၆။ ၎င်းတို့သည် အကြောင်းပြ ဆင်ခြေလဲနိုင်ကြရန် ခွင့်ပြုခြင်းကိုလည်း ခံကြရမည်မဟုတ်ပေ။ ၂

---

➤➤ ကျမ်းချက်များတွင် လာရှိသည်မှာ ကိယာမတ်နေ့တွင် ကာဖိရ်များ၏ အရိပ်ဆာယာအတွက် ငရဲမှ မီးခိုးများ ထွက်ပေါ်လာပေမည်၊ ထိုမီးခိုးများသည် အစိတ်စိတ်အမွှာမွှာ ဖြစ်သွားပေမည်။ ထိုမီးခိုးများသည် ကာဖိရ်တိုင်းကို ဝန်းရံထားပေမည်၊ မီးခိုးတစ်စိတ်တစ်ဒေသသည် ကာဖိရ်၏ဦးခေါင်းပေါ်၌ အရိပ်ပမာ မိုးလျက်ရှိပေမည်၊ မီးခိုးတစ်စိတ်တစ်ဒေသသည် ကာဖိရ်၏ လက်ယာဘက်တွင်လည်းကောင်း၊ တစ်စိတ်တစ်ဒေသသည် လက်ဝဲဘက်တွင်လည်းကောင်း ရံလျက်ရှိပေမည်။ ဤသို့ဖြင့် ကိယာမတ်နေ့တွင် ကာဖိရ်တိုင်းကို မီးခိုးအစုသုံးခုသည် သုံးဘက်သုံးတန်မှ ဝန်းရံလျက်ရှိပေမည်။ ကာဖိရ်များသည် စစ်ကြောမေးမြန်းခြင်း ပြီးဆုံးသည်အထိ အဆိုပါမီးခိုးရိပ်အောက်တွင်ပင် နေကြရပေမည်။ ကိယာမတ်နေ့ကို ယုံကြည်သော မုအ်မင်န်တို့မူကား "အရ်ရှ်" ပလ္လင်တော်၏ အရိပ်ဆာယာအောက်တွင် အေးချမ်းသာယာစွာ (မတ်တတ်ရပ်လျက်) ရှိကြပေမည်။ ကိယာမတ်နေ့တွင် ကာဖိရ်များကို ဝန်းရံထားမည့်အရိပ်သည် အပန်းပြေစေမည်လည်းမဟုတ်၊ အပူရှိန်ကို ကာကွယ်ပေးမည်လည်းမဟုတ်၊ မီးခိုး၏ အရိပ်သာဖြစ်သည်။

① ငရဲမီးသည် မြင့်မားသော အဆောက်အအုံကြီးများပမာ၊ မြင့်မားသော မီးပွင့်များကို ပေါက်ထွက်စေမည်၊ တစ်နည်း–ယင်းငရဲမီးသည် ကြီးမားသော အဆောက်အအုံကြီးများတမျှ ကြီးမားသောမီးပွင့်များကို ပေါက်ထွက်စေမည်။ ယင်းမီးပွင့်များသည် အဆင်းအရောင်တွင် မည်းနက်သော ကုလားအုတ်ကြီးများနှင့် တူပေမည်။ ငရဲမီးကား ကြောက်မက်ဖွယ်ပါတကား။

② ကိယာမတ်နေ့တွင် အချို့ဌာနများ၌ ကာဖိရ်များသည် စကားပင်ပြောဆိုနိုင်ကြမည်မဟုတ်၊ ပြောဆိုခွင့်ရရှိသော ဌာနများတွင် ပြောဆိုခွင့် ရရှိကြသော်လည်း၊ ၎င်းတို့၏ပြောဆိုမှုသည် မည်သို့မျှ အကျိုးသက်ရောက်စေမည် မဟုတ်ပေ။ ဤသို့ဖြင့် ၎င်းတို့၏ ပြောဆိုမှု၊ မပြောဆိုမှုသည် မထူးခြားပေ၊ အတူတူပင်။

وَيۡلٞ يَوۡمَئِذٖ لِّلۡمُكَذِّبِينَ ﴿٣٧﴾

၃၇။ ထိုနေ့သည် မဟုတ်မမှန်ဟူ၍ စွပ်စွဲငြင်းပယ်ကြကုန်သောသူတို့၌ (ကြီးကျယ်လှစွာသော) ပျက်စီးမှုသည်ရှိချေမည်။

هَٰذَا يَوۡمُ ٱلۡفَصۡلِۖ جَمَعۡنَٰكُمۡ وَٱلۡأَوَّلِينَ ﴿٣٨﴾

၃၈။ ဤသည် စီရင်ဆုံးဖြတ်မည့်နေ့ပင်။ ငါအရှင်မြတ်သည် အသင်တို့အားလည်းကောင်း၊ ရှေးသူဟောင်းတို့အားလည်းကောင်း၊ စုရုံးတော်မူလိုက်ပြီ။

فَإِن كَانَ لَكُمۡ كَيۡدٞ فَكِيدُونِ ﴿٣٩﴾

၃၉။ သို့ဖြစ်ပေရာ အကယ်၍ အသင်တို့၌ အကြံအစည် တစ်စုံတစ်ရာရှိခဲ့မူ ငါအရှင်မြတ်နှင့် ယှဉ်ပြိုင်၍ ကြံစည်ကြလေကုန်။ [၁]

وَيۡلٞ يَوۡمَئِذٖ لِّلۡمُكَذِّبِينَ ﴿٤٠﴾

၄၀။ ထိုနေ့တွင်မူကား မဟုတ်မမှန်ဟူ၍ စွပ်စွဲငြင်းပယ်ကြကုန်သောသူတို့၌ (ကြီးကျယ်လှစွာသော) ပျက်စီးမှုသည် ရှိချေအံ့သတည်း။

إِنَّ ٱلۡمُتَّقِينَ فِي ظِلَٰلٖ وَعُيُونٖ ﴿٤١﴾

၄၁။ ဧကန်မလွဲ "မွတ္တကီ" သူတော်စင်တို့သည် အရိပ်အာဝါသများ၌လည်းကောင်း၊ စမ်းများ၌လည်းကောင်း။

وَفَوَٰكِهَ مِمَّا يَشۡتَهُونَ ﴿٤٢﴾

၄၂။ ထိုသူတို့ အာသာဆန္ဒရှိကြလေသော သစ်သီးဝလံများ၌လည်းကောင်း၊ ရှိနေကြပေမည်။

---

(၁) လူသားတို့သည် လူ့လောကတွင်၊ တရားရုံးများတွင် ဉာဏ်နီဉာဏ်နက်အသုံးပြု၍ကာ နည်းပရိယာယ်အမျိုးမျိုးဖြင့် အနက်ကို အဖြူလုပ်ကြသည်။ လေးသောအပြစ်ကို ပေါ့စေသည်။ အမျိုးမျိုးကြံစည်ကြသည်။ အချို့လူသားတို့သည် လူ့လောကတရားရုံးများတွင် အမျိုးမျိုးအကြံအစည်ထုတ်နိုင်သကဲ့သို့ ကိယာမတ်နေ့ အလ္လာဟ်အရှင်မြတ်၏ တရားရုံးတော်တွင်လည်း အကြံအစည် ထုတ်နိုင်ကြမည်ဟု ထင်မှတ်ကောင်း ထင်မှတ်ကြပေမည်။ ထိုသို့ကား အလျှင်းမဟုတ်။ ကိယာမတ်နေ့တွင် အလ္လာဟ်အရှင်မြတ်က "ဤသည် အဆုံးအဖြတ်ပေးတော်မူမည့်နေ့ဖြစ်သည်၊ ငါအရှင်မြတ်သည် အသင်တို့အားလည်းကောင်း၊ ရှေးသူဟောင်းတို့အားလည်းကောင်း၊ အားလုံးတို့အား စုပေါင်းထားတော်မူလိုက်ပြီ၊ အသင်တို့၌ လွတ်မြောက်ရန် အကြံအစည်ရှိက စုပေါင်းကြံစည်ကြ" ဟု မြွက်ဆိုတော်မူပေမည်။

كُلُوا وَاشْرَبُوا هَنِيٓـًٔا بِمَا كُنتُمْ تَعْمَلُونَ ﴿٤٣﴾

၄၃။ (၎င်းတို့သည် ဤသို့ပြောဆိုခြင်းကို ခံကြရပေမည်။) အသင်တို့သည် မိမိတို့ ကျင့်မှုခဲ့ကြလေသော (ကောင်းမှု သုစရိုက်များကြောင့်) မြိန်ယှက်စွာ စားသုံးခြင်းကိုလည်းကောင်း၊ သောက်သုံးခြင်းကိုလည်းကောင်း၊ ပြုကြလေကုန်။

إِنَّا كَذَٰلِكَ نَجْزِى ٱلْمُحْسِنِينَ ﴿٤٤﴾

၄၄။ ဧကန်မလွဲ ငါအရှင်မြတ်သည် ကောင်းမှုပြုသူတို့အား ဤအတိုင်းပင် အစားပေးလေ့ရှိတော်မူ၏။

وَيْلٌ يَوْمَئِذٍ لِّلْمُكَذِّبِينَ ﴿٤٥﴾

၄၅။ ထိုနေ့တွင် မဟုတ်မမှန်ဟူ၍ စွပ်စွဲငြင်းပယ်ကြကုန်သောသူတို့၌ (ကြီးကျယ်လှစွာသော) ပျက်စီးမှုသည် ရှိပေမည်။

كُلُوا وَتَمَتَّعُوا قَلِيلًا إِنَّكُم مُّجْرِمُونَ ﴿٤٦﴾

၄၆။ အသင်တို့သည် (ဤပစ္စက္ခဘဝ၌) အနည်းငယ်မျှ (ကာလတိုင်အောင်) စားသုံးခြင်းကိုလည်းကောင်း၊ အကျိုးခံစားခြင်းကိုလည်းကောင်း၊ ပြုကြလေကုန်။ ဧကန်မလွဲ အသင်တို့သည် အပြစ်ရှိသူများပင် ဖြစ်ကြကုန်၏။ ⁽¹⁾

وَيْلٌ يَوْمَئِذٍ لِّلْمُكَذِّبِينَ ﴿٤٧﴾

၄၇။ ထိုနေ့တွင် မဟုတ်မမှန်ဟူ၍ စွပ်စွဲငြင်းပယ်ကြကုန်သောသူတို့၌ (ကြီးကျယ်လှစွာသော) ပျက်စီးမှုသည် ရှိပေမည်။

---

(၁) ဤအာယတ်တော်သည် ပြစ်မှုကျူးလွန်သော ကာဖိရ်များကို ရည်ညွှန်းမိန့်ဆိုထားတော်မူသော အာယတ်တော်ဖြစ်သည်။ ဆိုလိုသည်ကား (အို-ကာဖိရ်အပေါင်းတို့) "အသင်တို့သည် ရက်အနည်းငယ် စားသုံးလိုက်ကြဦး၊ အကျိုးခံစားလိုက်ကြဦး ဤစားသောက်ခြင်း၊ အကျိုးခံစားခြင်းသည် အသင်တို့အား မကောင်းကျိုးသာပေးလိမ့်မည်၊ အကြောင်းသော်ကား အသင်တို့သည် အထင်အရှား ပြစ်မှုကျူးလွန်သူများ ဖြစ်ကြပေသည်။ ယင်း ပြစ်မှုကျူးလွန်မှု၏ ပြစ်ဒဏ်မှာ ရာသက်ပန် ငရဲလားခြင်းနှင့် ကြီးလေးသော ပြစ်ဒဏ်ပင်ဖြစ်သည်။ ယင်းသို့ ပြစ်မှု ကျူးလွန်သူများအား အသင်တို့သည် ရက်အနည်းငယ် စားသုံးလိုက်ကြဦး၊ အကျိုးခံစားလိုက်ကြဦး"ဟု မိန့်ဆိုတော်မူခြင်းမှာ ကြိုးမိန့်ကျပြီးသော တရားခံတစ်ဦးအား ကြိုးမပေးမီ "အသင်တို့အလိုရှိသမျှ ဖွင့်ဟပြောလေ၊ အသင်၏အလိုဆန္ဒကို ဖြည့်စွမ်းနိုင်ရန် ကြိုးစားပါမည်" ဟု သက်ဆိုင်ရာ အာဏာပိုင်က ပြောဆိုခြင်းမျိုးပင်။

وَإِذَا قِيلَ لَهُمُ ارْكَعُوا لَا يَرْكَعُونَ ﴿٤٨﴾

၄၈။ စင်စစ်သော်ကား ၎င်းတို့အား "အသင်တို့သည် 'ရုကူအ်' ဦးညွှတ်ကြလေကုန်၊" ဟု အမိန့်ပေးတော်မူသောအခါ ၎င်းတို့သည် "ရုကူအ်" ဦးညွှတ်ခြင်းကို ပြုကြသည် မဟုတ်ပေ။ [၁]

وَيْلٌ يَوْمَئِذٍ لِّلْمُكَذِّبِينَ ﴿٤٩﴾

၄၉။ ထိုနေ့တွင် မဟုတ်မမှန်ဟူ၍ စွပ်စွဲငြင်းပယ်ကြကုန်သောသူတို့၌ (ကြီးကျယ်လှစွာသော) ပျက်စီးမှုသည် ရှိချေမည်။

فَبِأَيِّ حَدِيثٍ بَعْدَهُ يُؤْمِنُونَ ﴿٥٠﴾

၅၀။ စင်စစ် ၎င်းတို့သည် (ကုရ်အာန်ကျမ်းတော်မြတ်)အပြင် (တစ်နည်း) (ကုရ်အာန်ကျမ်းတော်မြတ်ကျရောက်ခဲ့ပြီး)နောက် မည်သည့်စကားကို သက်ဝင်ယုံကြည်ကြကုန်အံ့နည်း။ [၂]

---

(၁) ယင်းကာဖိရ်များအား အသင်တို့သည် ဆွလာတ်ဝတ်ပြုရာ၌ ဦးညွှတ်ကြဟု ပြောဆိုသောအခါ တစ်နည်း- ၎င်းတို့အား အသင်တို့သည် အလ္လာဟ်အရှင်မြတ် အမိန့်တော်များရှေ့မှောက်တွင် ဦးညွှတ်ကြဟု ပြောဆိုသောအခါ ၎င်းတို့သည် ဦးမညွှတ်ကြပေ။ အကယ်၍သာ ၎င်းတို့သည် ထိုအချိန်တွင် ဦးညွှတ်ခဲ့ကြပါက ယနေ့ ဤ(နောင်တမလွန်)ဘဝတွင် ဦးခေါင်းထောင်နိုင်ကြမည် ဖြစ်ပေသည်။ ထိုဘဝတွင် ဦးခေါင်းထောင်ခဲ့ကြသည့်အတွက် ဤဘဝတွင် ဦးခေါင်းငိုက်စိုက်ကြရပြီ မဟုတ်တုံလော။ ဤကား မည်သူမပြု မိမိမှုပင်၊ ခေါင်းမာခြင်း၏ အကျိုးပင်။

(၂) ကုရ်အာန်ကျမ်းမြတ်သည် အလ္လာဟ်အရှင်မြတ်၏ အာယတ်တော်ဖြစ်သည်၊ တရားအဆုံးအမ၊ ဩဝါဒတော်ဖြစ်သည်။ အနက်အဓိပ္ပါယ်ပြည့်ဝလှသည်၊ နက်နဲသိမ်မွေ့လှသည်၊ ထိမိလှသည်၊ အကျိုးသက်ရောက်လှသည်။ ဤမည်သော ကုရ်အာန်ကျမ်းမြတ်ထက် ပိုမိုကောင်းမွန်မြင့်မြတ်သော ကျမ်းသည် အဘယ်မှာလျှင် ရှိနိုင်အံ့နည်း။ ဤကာဖိရ်များသည် ဤသို့သော ကုရ်အာန်ကျမ်းမြတ်ကိုပင် မယုံကြည်ကြပါပေ။ အခြား အဘယ်အရာကို ယုံကြည်ကြမည်နည်း။ ကုရ်အာန်ကျမ်းမြတ်၏နောက်တွင် မိုးပေါ်မှကျလာမည့် အခြားကျမ်းများ ရှိလေသေးသလော။ ယင်းကာဖိရ်များသည် ထိုကျမ်းကိုပင် စောင့်မျှော်နေကြလေသလော။ ကုရ်အာန်ကျမ်းမြတ်၏ နောက်တွင် မိုးပေါ်ကကျရန် အခြားကျမ်းမရှိပြီ။ ကုရ်အာန်ကျမ်းမြတ်ကိုမှ မယုံကြည်ပါက၊ ယုံကြည်ရန် အခြားကျမ်းလည်းမရှိပြီ။

# ကြီးကျယ်သောသတင်းကဏ္ဍ

سُوْرَةُ النَّبَإِ

ဤကဏ္ဍသည် "ဇူရဟ်နဗာ့" ကြီးကျယ်သော သတင်းပါဝင်သည့် ကဏ္ဍမည်၏။
မက္ကာမြို့တော်၌ ကျရောက်ခဲ့၏။ ဤကဏ္ဍတွင် အာယတ်တော် (၄၀)၊
ရကူအ် အပိုဒ်(၂) အသီးသီးပါရှိ၏။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ ۝

မပြတ်မစဲ သနားကြင်နာ ညှာတာတော်မူသော
မဟာကရုဏာတော်ရှင် ဖြစ်တော်မူသော
အလ္လာဟ်အရှင်မြတ်၏နာမံတော်ဖြင့် အစပြုပါ၏။

عَمَّ يَتَسَآءَلُوْنَ ۝١

၁။ ထို (ကိယာမတ်ကို မယုံကြည်သောသူတို့သည်) မည်သည့်အရာနှင့်စပ်လျဉ်း၍ မိမိတို့ အချင်းချင်း မေးမြန်းလျက် ရှိကြသနည်း။

عَنِ النَّبَاِ الْعَظِيْمِ ۝٢

၂။ ၎င်းတို့သည် အကြင် ကြီးကျယ်လှစွာသော (ကိယာမတ်၏)အကြောင်းသတင်းကို (မေးမြန်းလျက်ရှိကြကုန်၏)။

الَّذِىْ هُمْ فِيْهِ مُخْتَلِفُوْنَ ۝٣

၃။ ၎င်းတို့သည် ယင်း အကြောင်းသတင်းနှင့်စပ်လျဉ်း၍ (အမြင်မှန်ရရှိသောသူတို့နှင့် အယူဝါဒ) ကွဲလွဲနေသူများ ဖြစ်ကြကုန်၏။

كَلَّا سَيَعْلَمُوْنَ ۝٤

၄။ (၎င်းတို့သည် ကိယာမတ် ဖြစ်မည်မဟုတ်ဟု ထင်မှတ်နေကြ၏။) (ထိုသို့) အလျှင်းမဟုတ်၊ (ထိုကိယာမတ်သည် မုချ ဆိုက်ရောက်လာမည်ဖြစ်ရာ) ၎င်းတို့သည် မကြာမြင့်မီပင် (ယင်းကိယာမတ်ကို မျက်မြင်ဒိဋ္ဌ တွေ့မြင်) သိရှိကြရပေမည်။ [၁]

---

၁ <u>သေပြီးနောက်တစ်ဖန် ရှင်ပြန်ထရမည်မှာ အမှန်ပင်။</u>

ကြီးကျယ်သောအကြောင်းသတင်း ဟူသည်ကား အဘယ်နည်း။ အချို့က ကြီးကျယ်သော အကြောင်းသတင်း ဟူသည် သေပြီးနောက်တစ်ဖန် ရှင်ပြန်ထခြင်းကို ဆိုလိုသည်ဟူ၍လည်းကောင်း၊ အချို့က ကုရ်အာန်ကျမ်းမြတ်ကို ဆိုလိုသည်ဟူ၍လည်းကောင်း၊ အချို့က တမန်တော်မြတ်၏ (နုဗုဝါတ်)တမန်တော်▶▶

➤➤ ဖြစ်မှုကို ဆိုလိုသည်ဟူ၍လည်းကောင်း၊ အမျိုးမျိုး အနက်ဖွင့်ကြသည်။ ယင်းအဆိုများအနက် ပထမအဆိုသည် ပိုမို သင့်မြတ်သည်။ ထာနဝီသခင်ကလည်း ဤအတိုင်းပင် အနက်ဖွင့်ထားသည်။

ကာဖိရ်၊ မုရှ်ရစ်က်များသည် တမန်တော်မြတ်၏ တမန်တော်ဖြစ်မှုနှင့် စပ်လျဉ်း၍လည်းကောင်း၊ ကုရ်အာန်ကျမ်းမြတ်နှင့် စပ်လျဉ်း၍လည်းကောင်း၊ အချင်းချင်း ကွဲပြားလျက်ရှိကြသည်။ ထို့အတူ သေပြီးနောက် တဖန် ရှင်ပြန်ထခြင်းနှင့်စပ်လျဉ်း၍လည်း ကွဲပြားလျက်ရှိကြသည်။

အချို့က သေပြီးနောက် ရှင်ပြန်ထခြင်းသည် အလျင်းဖြစ်မည်မဟုတ်ဟု ဆိုကြသည်။
ကြည့်-ကုရ်အာန်(၂၃း၃၇)။

အချို့က သေပြီးနောက် တဖန် ပြန်လည်ရှင်ပြန်ထခြင်းနှင့် စပ်လျဉ်း၍ ဒွိဟသံသယ ဖြစ်နေကြသည်။
ကြည့်-ကုရ်အာန်(၄၅း၃၂)။

အချို့က သေပြီးနောက် တဖန် ပြန်လည်ရှင်ပြန်ထရေးကို ဆိုရာတွင် ရုပ်နှင့်နာမ်၂-ခုလုံး၏ ရှင်ပြန်ထရေးကို ငြင်းဆိုကြသည်။

အချို့က ရုပ်၏ရှင်ပြန်ထရေးကိုသာ ငြင်းဆိုကြသည်။ ကြည့်-တဖ်စီရ်အဗူစုအူဒ်။

သေပြီးနောက် တဖန် ပြန်လည်ရှင်ပြန်ထရေးကို ငြင်းဆိုသော ကာဖိရ်၊ မုရှ်ရစ်က်များ ပြက်ရယ်ပြုသည့်သဘောဖြင့် ကိယာမတ် ဘယ်သောအခါ ဖြစ်မည်နည်း။ ကိယာမတ်ဖြစ်ရာတွင် အဘယ်ကြောင့် ကြန့်ကြာနေပါသနည်း။ ယခု အဘယ်ကြောင့် ကိယာမတ် မဖြစ်သနည်း။ စသည်ဖြင့် အချင်းချင်းအားလည်းကောင်း၊ တမန်တော်မြတ်နှင့်မွတ်စ်လင်မ်များအားလည်းကောင်း၊ မေးမြန်းကြသည်။

ပွင့်လေသမျှသော တမန်တော်များသည် ကိယာမတ်ဖြစ်မည့်အကြောင်း အသီးသီး သတိပေးနှိုးဆော်ခဲ့ကြပေသည်။ သို့တစေလည်း ကာဖိရ်၊ မုရှ်ရစ်က်များသည် ပြက်ရယ်ပြုသည့်သဘောဖြင့် မေးလျက်သာ ရှိကြပေသည်။

အလ္လာဟ်အရှင်မြတ် မိန့်ကြားထားတော်မူသည့်အတိုင်း အချိန်ကျသည့်အခါ ကိယာမတ် မုချဖြစ်မည်။ သတ္တဝါအားလုံးတို့သည် ရှင်ပြန်ထကြရမည်။ ဤပစ္စက္ခတွင် ဆည်းပူးခဲ့ကြသည့် ကောင်းမှု၊ မကောင်းမှုတို့၏ အကျိုးပြစ်များကို အသီးသီး ခံ စံကြရမည်။ အရာရာတွင် အကြောင်းနှင့်အကျိုး ဒွန်တွဲ ဆက်စပ်လျက်ရှိသည်။ ဤပစ္စက္ခသည် အကြောင်းဖြစ်သည်။ နောင်တမလွန်ဘဝသည် အကျိုးဖြစ်သည်။ ကိယာမတ်မဖြစ်က ဤပစ္စက္ခသည် အချည်းနှီးဖြစ်ချိမ့်မည်။

ဤသို့ကား အလျင်းမဟုတ်၊ ကိယာမတ် မုချဖြစ်မည်။ ထိုအခါ ကာဖိရ်၊ မုရှ်ရစ်က်များသည် ကိယာမတ်ကို ကိုယ်တွေ့မျက်မြင် သိရှိသွားကြပေမည်။ ကာဖိရ်၊ မုရှ်ရစ်က်များသည် သေဆုံးပြီးနောက် ပြစ်ဒဏ်ခံကြရသည့်အခါမှပင် ကိယာမတ်၏သဘောကို သိရှိနားလည်သွားကြပေမည်။ ထိုအချိန်ကား မဝေးလှပြီ။

အလ္လာဟ်အရှင်မြတ်သည် စကြာဝဠာအဝန်းကို နတ္ထိက လုံးဝမရှိသည့်ဘဝမှ စတင်ဖန်ဆင်းတော်မူခဲ့သည်ဖြစ်ရာ ယင်းစကြာဝဠာအဝန်းကို တဖန်ရှင်ပြန်ထစေအောင် ပြုလုပ်ရန်မှာ ထိုအရှင်မြတ်အဖို့ အသို့လျှင် အခက်အခဲ ရှိနိုင်အံ့နည်း။ ကြည့်-ကုရ်အာန် (၂၃း၇၇-၈၃။ ၇၅း၁-၁၅)။

သေပြီးနောက်တဖန် ရှင်ပြန်ထခြင်းကို ငြင်းဆန်ခြင်းသည် တစ်နည်းအားဖြင့် အလ္လာဟ်အရှင်မြတ်၏ တန်ခိုးတော်ကို ငြင်းဆန်ရာရောက်သည်။ ထို့အတွက် ရှေ့အာယတ်တော်များတွင် ထိုအရှင်မြတ် ပြုလုပ်စီရင်ထားတော်မူသော အချို့ကျေးဇူးတော်များကို ထုတ်ဖော်မိန့်ဆိုထားတော်မူသည်။

ثُمَّ كَلَّا سَيَعْلَمُونَ ۝٥

၅။ ထို့နောက်တဖန် (ငါအရှင်မြတ် ထပ်မံ မိန့်ကြားတော်မူအံ့၊ ၎င်းတို့သည် ကိယာမတ် ဖြစ်မည်မဟုတ်ဟု ထင်မှတ်နေကြ၏၊) အလျှင်းမဟုတ်၊ (ထိုကိယာမတ်သည် အမှန်ပင် ဆိုက်ရောက်လာမည်ဖြစ်ပေရာ) ၎င်းတို့သည် (မျက်ဝါးထင်ထင်တွေ့မြင်) သိရှိကြရမည်သာ။

أَلَمْ نَجْعَلِ الْأَرْضَ مِهَادًا ۝٦

၆။ (စင်စစ် ကိယာမတ်မဖြစ်နိုင်ဟု ငြင်းပယ်ခြင်းသည် ငါအရှင်မြတ်၏ တန်ခိုးတော်ကို ငြင်းပယ်စော်ကားခြင်းသာ ဖြစ်ပေသည်။ ငါအရှင်မြတ်၏ ထူးကဲဆန်းပြားလှစွာသော တန်ခိုးတော်ကို ၎င်းတို့သည် မတွေ့ကြလေသလော၊) ငါအရှင်မြတ်သည်သာလျှင် ပထဝီမြေကို (လူသတ္တဝါအပေါင်းတို့၏အကျိုးငှာ) အခင်း ပြုလုပ်တော်မူခဲ့သည် မဟုတ်လော။

وَالْجِبَالَ أَوْتَادًا ۝٧

၇။ ၎င်းပြင် (ငါအရှင်မြတ်သည်ပင် ယင်းပထဝီမြေ တည်ငြိမ်အံ့သောငှာ) တောင်များကို သတ်များ၊ ငုတ်များ၊ (ပြုလုပ်တော်မူခဲ့သည် မဟုတ်လော)။

وَخَلَقْنَاكُمْ أَزْوَاجًا ۝٨

၈။ ထိုမှတပါး ငါအရှင်မြတ်သည်သာလျှင် အသင်တို့အား (ယောကျ်ားနှင့် မိန်းမဟူ၍) အစုံ၊ အစုံ (စုံတွဲများ) ဖန်ဆင်းတော်မူခဲ့၏။

وَجَعَلْنَا نَوْمَكُمْ سُبَاتًا ۝٩

၉။ ၎င်းပြင် ငါအရှင်မြတ်သည်သာလျှင် အသင်တို့၏အိပ်စက်ခြင်းကို (အသင်တို့အဖို့) အပန်းဖြေမှု ပြုလုပ်တော်မူခဲ့၏။

وَجَعَلْنَا اللَّيْلَ لِبَاسًا ۝١٠

၁၀။ ထို့ပြင် ငါအရှင်မြတ်သည်သာလျှင် ညဉ့်ကို (အသင်တို့အကျိုးငှာ) ဝတ်ရုံ(အကာအကွယ်) ပြုလုပ်တော်မူခဲ့၏။

وَّجَعَلْنَا النَّهَارَ مَعَاشًا ﴿١١﴾

၁၁။ ထို့မှတပါး ငါအရှင်မြတ်သည်သာလျှင် နေ့ကို (အသင်တို့အဖို့) အသက်မွေးဝမ်းကျောင်းပြုရန် အချိန် ပြုလုပ်တော်မူခဲ့၏။

وَبَنَيْنَا فَوْقَكُمْ سَبْعًا شِدَادًا ﴿١٢﴾

၁၂။ ထို့ပြင် ငါအရှင်မြတ်သည်သာလျှင် အသင် တို့ထက်ဝယ် အလွန်ခိုင်ခန့်လှစွာသော မိုးခုနှစ်ထပ် ကို ဆောက်လုပ်တော်မူခဲ့၏။

وَّجَعَلْنَا سِرَاجًا وَّهَّاجًا ﴿١٣﴾

၁၃။ ထို့ပြင် ငါအရှင်မြတ်သည်သာလျှင် (ယင်းမိုး ကောင်းကင်၌) လင်းဝင်းတောက်ပလှစွာသော ဆီမီး တစ်ခုကို ဖန်ဆင်းတော်မူခဲ့၏။

وَّأَنزَلْنَا مِنَ الْمُعْصِرَاتِ مَاءً ثَجَّاجًا ﴿١٤﴾

၁၄။ ထို့မှတပါး ငါအရှင်မြတ်သည်သာလျှင် ညှစ် ထုတ်သောတိမ်များမှ (ရေအပြည့်ရှိသောမိုးတိမ်များမှ) (မိုး)ရေကို သည်းထန်စွာရွာသွန်းစေတော်မူခဲ့၏။ [၁]

لِّنُخْرِجَ بِهِ حَبًّا وَّنَبَاتًا ﴿١٥﴾

၁၅။ (ယင်းမိုးရေကို ရွာသွန်းစေတော်မူခြင်းမှာ) ငါအရှင်မြတ်သည် ထိုမိုးရေဖြင့် ကောက်ပဲသီးနှံများကို လည်းကောင်း၊ ဟင်းသီးဟင်းရွက်ပင်များကိုလည်း ကောင်း၊ ပေါက်ရောက်စေတော်မူရန်လည်း ဖြစ်ပေ သည်။

وَّجَنَّاتٍ أَلْفَافًا ﴿١٦﴾

၁၆။ ၎င်းပြင် ပူးကပ်ထူထပ်သော ဥယျာဉ်များ (ပေါက်ရောက်စေတော်မူရန်လည်း) ဖြစ်ပေသတည်း။

---

(၁) အလ္လာဟ်အရှင်မြတ်သည် ပထဝီမြေကြီး၊ တောင်၊ မိန်းမ၊ ယောကျ်ား၊ အိပ်စက်မှု၊ ည၊ နေ့၊ မိုး၊ နေ၊ ရေများကို အံ့မဆုံး ဖန်ဆင်းထားတော်မူသည်။ ဤသည် ထိုအရှင်မြတ်၏ တန်ခိုးတော်အနန္တ၏ အချို့သက်သေ လက္ခဏာများပင်။ ဤသည်တို့ကို စတင်ဖန်ဆင်းနိုင်တော်မူသော အရှင်မြတ်သည် ထိုသည့်အရာ များကို ဆိတ်သုဉ်းအောင်၊ ဆိတ်သုဉ်းပြီးနောက်တဖန် ပြန်လည်ရှင်ထအောင် အသို့လျှင် ပြုစွမ်းတော်မမူနိုင်အံ့နည်း။

အထက်တွင် ကိယာမတ်ဖြစ်နိုင်သည့်အကြောင်း ပါရှိသည်။ ရှေ့တွင် ကိယာမတ်ဖြစ်သည့်အခါ မည်သို့မည်ပုံ ဖြစ်ပျက်မည့်အကြောင်း မိန့်ဆိုထားတော်မူသည်။

إِنَّ يَوْمَ الْفَصْلِ كَانَ مِيقَاتًا ﴿١٧﴾

၁၇။ ကေန်မလွဲ စီရင်ဆုံးဖြတ်မည့်နေ့ကား သတ်မှတ်ပြီးဖြစ်သောအချိန်ကာလတစ်ခုပင် ၁ ဖြစ်ပေသည်၊

يَوْمَ يُنفَخُ فِي الصُّورِ فَتَأْتُونَ أَفْوَاجًا ﴿١٨﴾

၁၈။ အကြင်နေ့တွင် တံပိုးခရာမှုတ်ခြင်း ခံရပေမည်။ ထိုအခါ အသင်တို့သည် အစုလိုက်၊ အစုလိုက် လာကြပေမည်။

وَفُتِحَتِ السَّمَاءُ فَكَانَتْ أَبْوَابًا ﴿١٩﴾

၁၉။ ၎င်းပြင် (ထိုနေ့တွင်) မိုးကောင်းကင်သည် ပွင့်သွားပေမည်။ ထိုအခါ ယင်းမိုးကောင်းကင်၌ တံခါးများသာ ဖြစ်သွားကြပေမည်။

وَسُيِّرَتِ الْجِبَالُ فَكَانَتْ سَرَابًا ﴿٢٠﴾

၂၀။ ထို့ပြင် (ထိုနေ့တွင်) တောင်များသည် ရွေ့လျားစေခြင်းကို ခံကြရပေမည်။ ထိုအခါ ယင်းတောင်များသည် သဲ(များပမာ) (လင်းလျှပ်ပမာ) ဖြစ်သွားကြပေမည်။

إِنَّ جَهَنَّمَ كَانَتْ مِرْصَادًا ﴿٢١﴾

၂၁။ ကေန်အမှန် ဂျဟန္နမ်ငရဲသည် (ကျူးလွန်ဆိုးသွမ်းသူတို့အဖို့) ချောင်းမြောင်းရာဌာနပင် ဖြစ်ပေသည်။

لِّلطَّاغِينَ مَآبًا ﴿٢٢﴾

၂၂။ လွန်စွာ ဆိုးသွမ်း ပြစ်မှုကျူးလွန်သူတို့၏ ပြန်လည်ရာစခန်း(လည်း) ဖြစ်ပေသည်။

لَّابِثِينَ فِيهَا أَحْقَابًا ﴿٢٣﴾

၂၃။ (၎င်းတို့သည်) ယင်းဂျဟန္နမ်ငရဲ၌ အဆုံးမရှိသော အချိန်ကာလတိုင်အောင် နေထိုင်ကြရပေမည်။

---

(၁) **ကိယာမတ်နေ့သည် သတ်မှတ်ပြီးနေ့ဖြစ်၏။**

ကိယာမတ်နေ့သည် အလ္လာဟ်အရှင်မြတ် အဆုံးအဖြတ် ပေးတော်မူမည့်နေ့ ဖြစ်သည်။ ထိုနေ့တွင် အကောင်းနှင့်အဆိုး လုံးဝခွဲခြားတော်မူမည်။ ဤပစ္စက္ခတွင် ကာဖိရ်နှင့် မွတ်စ်လင်မ်၊ သူတော်နှင့်မသူတော် အားလုံး ရောပြွမ်းလျက်ရှိကြသည်။ ကမ္ဘာ့တန်ဆာပလာများ၏ အကျိုးကိုလည်း ရောပြွမ်းခံစားလျက် ရှိကြသည်။ ကိယာမတ်နေ့တွင်မူ ဤသည့်ရောပြွမ်းမှုသည် အလျင်းရှိမည် မဟုတ်ပေ။ ကာဖိရ်နှင့်မွတ်စ်လင်မ် သူတော်နှင့် မသူတော်အားလုံး ကွဲပြားခြားနားသွားကြပေမည်။ ကိယာမတ်နေ့သည် ဤပစ္စက္ခဘဝ ကုန်ဆုံးပြီးနောက်တွင် ဖြစ်မည်။ ထိုနေ့သည် အလ္လာဟ်အရှင်မြတ်ထံတော်တွင် သတ်မှတ်ပြီးဖြစ်သည်။ ထိုနေ့ ဖြစ်ပေါ်လာမည့်အချိန်ကို ထိုအရှင်မြတ်သာလျှင် သိတော်မူသည်။

لَا يَذُوقُونَ فِيهَا بَرْدًا وَّلَا شَرَابًا ﴿٢٤﴾

၂၄။ ၎င်းတို့သည် ယင်းဂျဟန္နမ်ငရဲ၌ မည်သည့် အေးချမ်း၊ အေးဆေး၊ အေးမြမှုကိုမျှ မြည်းစမ်းကြ ရမည်မဟုတ်ပေ။ ၎င်းပြင် မည်သည့်သောက်သုံးရာ ပစ္စည်းကိုမျှလည်း မြည်းစမ်းကြရမည် မဟုတ်ပေ။

إِلَّا حَمِيمًا وَّغَسَّاقًا ﴿٢٥﴾

၂၅။ ပွက်ပွက်ဆူလျက်ရှိသော ရေပူနှင့် ပြည်ပုပ်ကို သာ (မြည်းစမ်းကြရပေမည်)။ [၁]

جَزَآءً وِّفَاقًا ﴿٢٦﴾

၂၆။ (ဤသည် ၎င်းတို့အား ၎င်းတို့ ကျူးလွန်ခဲ့ ကြကုန်သော ပြစ်မှုဒုစရိုက်များနှင့်)လျော်ညီစွာ အစား ပေးခြင်းပင် ဖြစ်ပေသည်။

إِنَّهُمْ كَانُوا لَا يَرْجُونَ حِسَابًا ﴿٢٧﴾

၂၇။ ဧကန်မလွဲ ၎င်းတို့သည် မည်သည့်စစ်ဆေးမှု ကိုမျှ ကြောက်ရွံ့စိုးရိမ်ခဲ့ကြသည် မဟုတ်ပေ။ မျှော် လင့်ခဲ့ကြသည် မဟုတ်ပေ။

وَّكَذَّبُوا بِآيَاتِنَا كِذَّابًا ﴿٢٨﴾

၂၈။ ထိုမှတပါး ၎င်းတို့သည် ငါအရှင်မြတ်၏ အာယတ်တော်များကို မဟုတ်မမှန်ဟူ၍ ဖွတ်ငြင်းခဲ့ ကြပေသည်။ [၂]

---

(၁) **ကာဖိရ်များ၏ လားရာဌာန**

ပြစ်မှု လွန်စွာကျူးလွန်သော ကာဖိရ်၊ မုရှ်ရစ်က်များ၏ လားရာဘုံသည် ဂျဟန္နမ်ပင်ဖြစ်သည်။ ဂျဟန္နမ်သည် ၎င်းတို့အား အသင့် ချောင်းမြောင်းလျက်ရှိသည်။ ၎င်းတို့သည် ဂျဟန္နမ်တွင် အကန့်အသတ်မရှိ အမြဲထာဝစဉ် နေကြရမည်။ ၎င်းတို့သည် ဂျဟန္နမ်တွင် မည်သည့် အအေးကိုမျှလည်း ခံစားကြရမည်မဟုတ်။ မည်သည့် သောက်သုံးဖွယ်ရာကိုမျှလည်း သောက်သုံးကြရမည်မဟုတ်။ ကျိုက်ကျိုက်ဆူပွက်နေသော ရေပူနှင့် ငရဲသားတို့၏ ကိုယ်ခန္ဓာမှ ယိုစီးနေသော ပြည်ပုပ်များကိုသာ စားသောက်ကြရပေမည်။ ဤသည် ၎င်းတို့၏ မိုက်မဲ ဆိုးသွမ်းကျူးလွန်မှုများနှင့် လျော်ကန်သော အကျိုးပင်။ (အလ္လာဟ်အရှင်မြတ်သည် မိမိ၏ ကျေးဇူးတော်ဖြင့် ကျွန်တော်မျိုးတို့အား အဆိုပါ ဂျဟန္နမ်ငရဲဘုံမှ ဖယ်ရှားတော်မူပါစေသတည်း။)

(၂) ကာဖိရ်၊ မုရှ်ရစ်က်များသည် ဤသို့ စစ်ဆေးမေးမြန်းခြင်း ခံကြရမည်ဟူ၍ပင် မမျှော်လင့်ခဲ့ကြပေ။ ၎င်းတို့သည် အလ္လာဟ်အရှင်မြတ်၏ အာယတ်တော်များကို မဟုတ်မမှန်ဟူ၍ အထူးတလည် ငြင်းဆိုခဲ့ကြပေသည်။ ယခုမူ ၎င်းတို့ မမျှော်လင့်ခဲ့ကြသောအရာသည် ၎င်းတို့ရှေ့မှောက် ထင်ထင်ရှားရှား ရောက်ရှိလာချေပြီ။ ၎င်းတို့ မဟုတ်မမှန်ဟုငြင်း ဆိုခဲ့ကြသောအရာသည် အမှန်တကယ် ဟုတ်မှန်နေချေပြီ။

وَكُلَّ شَيْءٍ أَحْصَيْنَٰهُ كِتَٰبًا ﴿٢٩﴾

၂၉။ စင်စစ် ငါအရှင်မြတ်သည် (၎င်းတို့၏ အပြုအမူတို့ကို) အသီးသီး ရေးသားလျက် စေ့ငုစွာ ရေတွက်မှတ်သားတော်မူခဲ့သည်။ [၁]

فَذُوقُوا۟ فَلَن نَّزِيدَكُمْ إِلَّا عَذَابًا ﴿٣٠﴾

၃၀။ သို့ဖြစ်ပေရာ (ငါအရှင်မြတ်သည် ထိုနေ့တွင် ၎င်းတို့အား ယင်းအပြုအမူတို့ကို ပြသတော်မူ၍) အသင်တို့သည် (ပြစ်ဒဏ်၏အရသာကို) မြည်းစမ်းကြလေကုန်။ စင်စစ် ငါအရှင်မြတ်သည် ပြစ်ဒဏ်မှတပါး အခြားတစုံတရာကိုမျှ အသင်တို့၌ ပိုမိုစေတော်မူမည်မဟုတ်(ဟု မိန့်ကြားတော်မူအံ့သတည်း)။ [၂]

إِنَّ لِلْمُتَّقِينَ مَفَازًا ﴿٣١﴾

၃၁။ ဧကန်မလွဲ (အလ္လာဟ်အရှင်မြတ်အား) ကြောက်ရွံ့ရိုသေ ခန့်ညားသောသူတို့အဖို့ အောင်မြင်မှုသည် ရှိပေသည်။

حَدَآئِقَ وَأَعْنَٰبًا ﴿٣٢﴾

၃၂။ (၎င်းတို့ အေးချမ်းသာယာစွာ စားသောက်နေထိုင် သွားလာကြအံ့သောငှာ) ဥယျာဉ်များသည်လည်းကောင်း၊ စပျစ်သီးများသည်လည်းကောင်း၊ (ရှိကြပေမည်)။

وَكَوَاعِبَ أَتْرَابًا ﴿٣٣﴾

၃၃။ သက်တူရွယ်တူ ပျိုကညာများသည်လည်းကောင်း၊

---

(၁) အလ္လာဟ်အရှင်မြတ်သည် အလုံးစုံကို သိမြင်နိုင်တော်မူသော ဉာဏ်တော်ရှင်ဖြစ်တော်မူသည်။ အရာခပ်သိမ်းကုန်တို့ကို အကြွင်းမဲ့သိတော်မူသည်။ မှတ်တမ်းတော်တွင် ခရေစေ့တွင်းကျ စ, လယ်, ဆုံး အကုန်အစင် မှတ်သားထားတော်မူသည်။ ထိုမှတ်သားထားတော်မူသည့်အလျောက် ကောင်းကျိုးဆိုးပြစ် ပေးတော်မူမည်သာ ဖြစ်သည်။

(၂) ကာဖိရ်၊ မုရှ်ရစ်က်များသည် သေွဖည်ငြင်းဆန် မနာခံရာတွင် တစ်နေ့တစ်ခြား တိုး၍တိုး၍သာ ဆိုးသွမ်းလျက် ရှိခဲ့ကြပေသည်။ အကယ်၍သာ ၎င်းတို့သည် သေခြင်းတရားနှင့် ကင်း၍ နေခဲ့ကြရသည်ရှိသော် အမြဲတစေ တိုး၍တိုး၍ ဆိုးသွမ်းလျက်သာ ရှိကြပေမည်။ ထို့အတွက် အလ္လာဟ်အရှင်မြတ်သည် ငရဲဘုံတွင် ၎င်းတို့အား ပြစ်ဒဏ်ကို တိုး၍တိုး၍ ပေးသွားတော်မူမည်သာ ဖြစ်သတည်း။

ငရဲသားများနှင့်ပတ်သက်၍ ကုရ်အာန်ကျမ်းမြတ်တွင် ဤအာယတ်တော်သည် အပြင်းထန်ဆုံးပင် ဖြစ်သည်။

وَّكَأْسًا دِهَاقًا ﴿٣٤﴾

၃၄။ (အရက်ဖြင့်) ပြည့်လျှံလျက်ရှိသော ခွက်များသည်လည်းကောင်း၊ (ရှိကြပေသည်)။

لَا يَسْمَعُونَ فِيهَا لَغْوًا وَلَا كِذَّابًا ﴿٣٥﴾

၃၅။ ထိုသူတို့သည် ယင်းဥယျာဉ်များ၌ မည်သည့် သိမ်ဖျင်းသော စကားကိုမျှလည်းကောင်း၊ မည်သည့် မုသား စကားကိုမျှလည်းကောင်း၊ ကြားကြရမည် မဟုတ်ပေ။

جَزَاءً مِّن رَّبِّكَ عَطَاءً حِسَابًا ﴿٣٦﴾

၃၆။ (ဤသည်) အသင့်အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်အထံတော်မှ လုံလောက်စွာ ချီးမြှင့်တော်မူသော အကျိုးဆုလဒ်ပင်တည်း။ [၁]

رَّبِّ السَّمَاوَاتِ وَالْأَرْضِ وَمَا بَيْنَهُمَا الرَّحْمَٰنِ لَا يَمْلِكُونَ مِنْهُ خِطَابًا ﴿٣٧﴾

၃၇။ (အကြင်အရှင်မြတ်သည်) မိုးကောင်းကင်များကိုလည်းကောင်း၊ ပထဝီမြေကိုလည်းကောင်း၊ ယင်း မိုးကောင်းကင်များနှင့် ပထဝီမြေနှစ်ခု၏ အကြား၌ ရှိသမျှတို့ကိုလည်းကောင်း၊ ပိုင်ဆိုင်တော်မူသောအရှင် (ရဟ်မာန်) မဟာကရုဏာတော်ရှင် ဖြစ်တော်မူပေသည်။ မည်သူတဦးတယောက်မျှပင် ထိုအရှင်မြတ်နှင့် စကားပြောဆိုပိုင်ခွင့်ရှိမည် မဟုတ်ပေ။

---

(၁) <u>မုအ်မင်န်သူတော်စင်များ လားရာ ဂျန္နတ်သုခဘုံ။</u>

အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ရိုသေ ခန့်ညားသော မုအ်မင်န် သူတော်စင်များသည် နောင်တမလွန်ဘဝတွင် အောင်မြင်ခြင်း ကြီးမက အောင်မြင်ကြပေမည်။ လိုအင်ဆန္ဒအဝဝ ပြည့်ဝကြပေမည်။

မည်သူတစ်ဦးတစ်ယောက်မျှ မမြင်ဘူး၊ မကြားဘူး၊ မတွေ့ဘူးသော၊ အံ့မဆုံး ရှုမငြီး ဥယျာဉ်ကြီးများတွင် အမြဲထာဝရ အေးချမ်းသာယာစွာ မွေ့လျော်စံစားကြရပေမည်။ ထိုဥယျာဉ်များတွင် စားသုံးရန်အလို့ငှာ စပျစ်သီး စသည့် သစ်သီးဝလံ ပန်းမာလ်မျိုးစုံလည်း အသင့်ရှိပေမည်။

တူပျော်ရန် အလို့ငှာ သက်တူရွယ်တူမျှ လုပတင့်တယ် ရှုချင်ဖွယ်ကောင်းလှသော "ဟုရ်" ကညာများလည်း အသင့်ရှိကြပေမည်။

သောက်သုံးရန် အလို့ငှာ စင်ကြယ်သန့်ရှင်းသော၊ ပြည့်လျှံလျက်ရှိသော အဆက်မပြတ်သော အရက်ခွက်များလည်း အသင့်ရှိပေမည်။ ထိုဥယျာဉ်များတွင် အချည်းနှီး အကျိုးမဲ့ဖြစ်သော အသိမ်အဖျင်း စကားများ၊ မဟုတ်မလျား မုသားစကားများကို အလျင်းကြားကြရမည်မဟုတ်ပေ။

အချုပ်မှာ ထိုဥယျာဉ်များတွင် တစ်စုံတစ်ရာမျှ လိုလေသေးသည်ဟူ၍ အလျင်းရှိမည် မဟုတ်ပေ၊ ➤➤

يَوْمَ يَقُوْمُ الرُّوْحُ وَالْمَلٰٓئِكَةُ صَفًّا ۖ لَّا يَتَكَلَّمُوْنَ اِلَّا مَنْ اَذِنَ لَهُ الرَّحْمٰنُ وَقَالَ صَوَابًا ﴿٣٨﴾

၃၈။ အကြင်နေ့တွင် သက်ရှိ အပေါင်းတို့သည်လည်းကောင်း၊ "မလာအိကဟ်" ကောင်းကင်တမန် အပေါင်းတို့သည်လည်းကောင်း၊ (အလ္လာဟ်အရှင်မြတ်၏ ရှေ့တော်မှောက်ဝယ်) စီတန်းမတ်တတ် ရပ်ကြပေမည်။ (ထိုနေ့တွင် ၎င်းတို့အနက်) "ရဟ်မာန်" မဟာကရုဏာတော်ရှင်က ခွင့်ပြုတော်မူသော၊ မှန်ကန်သောစကားကို ပြောဆို(အံ့)သောသူမှတပါး မည်သူတဦးတယောက်မျှပင် စကားပြောဆိုနိုင်မည် မဟုတ်ပေ။[၁]

---

➤➤ လိုတရမည်သာတည်း။ ဒုက္ခမရှိ၊ သုခချည်းသာတည်း။ အမတတည်း၊ထာဝရတည်း။ ဤသည်တို့ကား မုအ်မင်န် သူတော်စင်တို့အား အလ္လာဟ်အရှင်မြတ်ထံမှ ချီးမြှင့်တော်မူအံ့သော အံ့ချီးမဆုံးနိုင်သော အကျိုးဆုလာဘ်တည်း။ (အလ္လာဟ်အရှင်မြတ်သည် ကျွန်တော်မျိုးတို့အား မိမိ၏ကျေးဇူးတော်ဖြင့် အဆိုပါ ဂျန္နတ်သုခဘုံတွင် ဝင်ရောက်စံမြန်းခွင့် ပြုတော်မူပါစေသတည်း)။

**၁ <u>အလ္လာဟ်အရှင်မြတ်၏ ရှေ့တော်မှောက်တွင် အခွင့်မရရှိဘဲလျက် မည်သူမျှ လျှောက်ထားဝံ့မည် မဟုတ်ပေ။</u>**

ကိယာမတ်နေ့တွင် သက်ရှိများနှင့် ကောင်းကင်တမန် အားလုံးတို့သည် အလ္လာဟ်အရှင်မြတ်၏ ရှေ့တော်မှောက်၌ ကြောက်ရွံ့ရိုသေခန့်ညားစွာဖြင့် တန်းစီကာ မတ်တပ်ရပ်လျက် ရှိကြပေမည်။ မည်သူတစ်ဦးတစ်ယောက်မျှ တစ်ခွန်းတစ်ပါဒမျှ ထိုအရှင်မြတ်၏ ရှေ့တော်မှောက်တွင် လျှောက်ထားဝံ့မည်မဟုတ်ပေ။ ထိုအရှင်မြတ်က လျှောက်ထားရန် ခွင့်ပြုတော်မူသော ပုဂ္ဂိုလ်သည်သာလျှင် လျှောက်ထားဝံ့ပေမည်။

ထိုသို့လျှောက်ထားခွင့်ရသော ပုဂ္ဂိုလ်သည်လည်း သစ္စာရှိသော၊ မှန်သောစကားကိုသာလျှင် လျှောက်ထားဝံ့ပေမည်။ လျှောက်ထားအသနားတော် ပန်ကြားအပ်သော ပုဂ္ဂိုလ်နှင့် ပတ်သက်၍သာ လျှောက်ထား ပန်ကြားဝံ့ပေမည်။ သို့လျှောက်ထား အသနားတော် ပန်ကြားအပ်သော ပုဂ္ဂိုလ်မှာလည်း လူ့လောကတွင် အမှန်ကန်ဆုံးဖြစ်သော "လာအိလာဟ အိလ္လလ္လာဟု" ဟူသော "ကလိမဟ် တောင်ဟီဒ်"ကို ယုံကြည်စွာ မြွက်ဆိုခဲ့သူသာ ဖြစ်ပေမည်။

ဤအာယတ်တော်တွင်ပါရှိသော "အလ်ရူဟ်" ဟူသောပုဒ်ကိုအချို့က ကောင်းကင်တမန် ဂျိဗ်ရီလ်ဟူ၍လည်းကောင်း၊ အချို့က ဝိညာဉ်အပေါင်းဖြစ်ထွန်းရာ အကြီးဆုံးသော ဝိညာဉ်ချုပ်ဟူ၍လည်းကောင်း၊ အမျိုးမျိုး အနက်ဖွင့်ကြသည်။ (အွတ်ဆ်မာနီ)။

အချို့က သက်ရှိများဟူ၍လည်းကောင်း ဖွင့်ဆိုကြသည်။ (ထာနဝီ)။

အချို့က လူသားတို့၏ ဝိညာဉ်များဟူ၍လည်းကောင်း၊ ဖွင့်ဆိုကြသည်။(အိဗ်နုကဆီရ်)။

ذٰلِكَ الْيَوْمُ الْحَقُّ ۚ فَمَنْ
شَاۤءَ اتَّخَذَ اِلٰى رَبِّهٖ مَاٰبًا ﴿٣٩﴾

**၃၉။** ထို(ကိယာမတ်နေ့)သည်ကား မုချ ဆိုက်ရောက်မည့်နေ့ပင် ဖြစ်ပေသည်။ သို့ဖြစ်ပေရာ အလိုရှိသောသူသည် မိမိအား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၏အထံတော်တွင် (မိမိအဖို့) ပြန်လည်ရာဌာနကို (အဆင်သင့်)ပြုလုပ်၍ ထားရပေမည်။

اِنَّاۤ اَنْذَرْنٰكُمْ عَذَابًا قَرِيْبًا ۚۖ
يَّوْمَ يَنْظُرُ الْمَرْءُ مَا قَدَّمَتْ
يَدٰهُ وَيَقُوْلُ الْكٰفِرُ يٰلَيْتَنِيْ
كُنْتُ تُرٰبًا ﴿٤٠﴾

**၄၀။** ဧကန်မလွဲ ငါအရှင်မြတ်သည် အသင်တို့အား မကြာမီ (ဆိုက်ရောက်မည်ဖြစ်သော) ပြစ်ဒဏ်နှင့်စပ်လျဉ်း၍ သတိပေး နိုးဆော်တော်မူခဲ့ချေပြီ။ ထိုနေ့တွင် လူတိုင်းသည် မိမိလက်နှစ်ဘက်ဖြင့် ကြိုတင်ပို့နှင့်ခဲ့သော အပြုအမူတို့ကို တွေ့မြင်ကြပေမည်။ ထိုမှတပါး (ထိုနေ့တွင်) ကာဖိရ် မယုံမကြည်သွေဖည်ငြင်းပယ်သောသူက "သြော်-ငါသည် မြေကြီးဖြစ်ခဲ့ရလျှင်၊ ဖြစ်နိုင်လျှင်၊ ကောင်းလေစွတကား၊" ဟု ပြောဆို(ညည်းညူ)အံ့သတည်း။

# ဆွဲငင်ထုတ်နုတ်သူများကဏ္ဍ

سُورَةُ النَّازِعَاتِ

ဤကဏ္ဍသည် "စူရဟ်နာဇိအာတ်" ဆွဲငင်ထုတ်နုတ်ယူသော ကောင်းကင်တမန်များ အကြောင်း ပါဝင်သော ကဏ္ဍမည်၏။ ဤကဏ္ဍသည် မက္ကာမြို့တော်၌ ကျရောက်ခဲ့၏။ ဤကဏ္ဍတွင် အာယတ်တော် (၄၆)၊ ရကူအ်အပိုဒ် (၂) အသီးသီးပါရှိ၏။

بِسْمِ اللَّهِ الرَّحْمَٰنِ الرَّحِيمِ

မပြတ်မစဲ သနားကြင်နာ ညှာတာတော်မူသော မဟာကရုဏာတော်ရှင် ဖြစ်တော်မူသော အလ္လာဟ်အရှင်မြတ်၏နာမံတော်ဖြင့် အစပြုပါ၏။

وَالنَّازِعَاتِ غَرْقًا ①

၁။ (ကာဖိရ် မယုံမကြည်သွေဖည်ငြင်းပယ်သော သူတို့၏အသက်ဇီဝိန်များကို) ပြင်းထန်စွာ ဆွဲငင်နုတ်ထုတ်ယူကြသော (ကောင်းကင်တမန်)တို့အား သက်သေထူတော်မူ၏။

وَالنَّاشِطَاتِ نَشْطًا ②

၂။ ၎င်းပြင် အထုံးအဖွဲ့ကို ဖြေပေးကြသော(ဝါ) မုအ်မင်န် သက်ဝင်ယုံကြည်သူတို့၏ အသက်ဇီဝိန်များကို လွယ်ကူ (ညင်သာ)စွာ နုတ်ယူကြသော (ကောင်းကင်တမန်)တို့အား သက်သေထူ၏။

وَالسَّابِحَاتِ سَبْحًا ③

၃။ ၎င်းပြင် (ရေကူးသကဲ့သို့) လျင်မြန်စွာကူး၍ သွားကြသော (ကောင်းကင်တမန်)တို့အား သက်သေထူတော်မူ၏။

فَالسَّابِقَاتِ سَبْقًا ④

၄။ တဖန် လျင်မြန်စွာပြေးကြသော(ကောင်းကင်တမန်)တို့အား သက်သေထူတော်မူ၏။

فَالْمُدَبِّرَاتِ أَمْرًا ⑤

၅။ တဖန် အရေးကိစ္စအဝဝတို့ကို နေရာတကျ ဖြစ်အောင် စီမံကြသော (ကောင်းကင်တမန်)တို့အား သက်သေထူတော်မူ၏။

| | |
|---|---|
| ၆။ အကြင်နေ့တွင် တုန်လှုပ်စေသောအရာ (ဝါ) ပထမအကြိမ် တံပိုးခရာမှုတ်ခြင်းသည် တုန်လှုပ်စေမည်ဖြစ်၏။ | يَوْمَ تَرْجُفُ الرَّاجِفَةُ ﴿٦﴾ |
| ၇။ နောက်မှလာသောအရာ(ဝါ) ဒုတိယအကြိမ် တံပိုးခရာမှုတ်ခြင်းသည် ယင်းတုန်လှုပ်စေသောအရာ (ဝါ) ပထမအကြိမ် တံပိုးခရာမှုတ်ခြင်း၏နောက်မှ လိုက်၍လာမည်ဖြစ်၏။ | تَتْبَعُهَا الرَّادِفَةُ ﴿٧﴾ |
| ၈။ ထိုနေ့တွင်ကား မြောက်မြားစွာသောစိတ်နှလုံးများသည် ချောက်ချားလျက်ရှိကြပေမည်။ | قُلُوبٌ يَوْمَئِذٍ وَاجِفَةٌ ﴿٨﴾ |
| ၉။ ထို (စိတ်နှလုံးရှင်)တို့၏ မျက်စိများကား အောက်သို့စိုက်လျက် ရှိကြပေမည်။ ၁ | أَبْصَارُهَا خَاشِعَةٌ ﴿٩﴾ |
| ၁၀။ ၎င်းတို့က "အသို့ပါနည်း၊ ကျွန်ုပ်တို့သည် မူလအခြေအနေသို့ တဖန်ပြန်၍ အမှန်ပင် ရောက်ရှိကြမည်လော၊" ဟု ပြောဆိုကြလေသည်။ | يَقُولُونَ أَإِنَّا لَمَرْدُودُونَ فِي الْحَافِرَةِ ﴿١٠﴾ |

---

(၁) **ကိယာမတ် မုချဖြစ်မည်။**

သက်ဆိုင်ရာ ကောင်းကင်တမန်များသည် ကာဖိရ်များ၏ အသက်ဝိညာဉ်များကို ပြင်းထန်စွာ ဆွဲငင်ထုတ်နုတ်ယူကြသည်။ မုအ်မင်န်တို့၏ အသက်ဝိညာဉ် များကိုမူ သာယာဖြည်းညင်းစွာ ထုတ်ယူကြသည်။ ပြီးနောက် အသက်ဝိညာဉ်များကို ကောင်းကင်သို့ လျင်မြန်စွာ ရေကူးသည့်ပမာ ယူဆောင်သွားကြသည်။

ထို့နောက် ယင်းအသက်ဝိညာဉ်များနှင့်ပတ်သက်၍ အလ္လာဟ်အရှင်မြတ်ထံတော်မှ ကျရောက်လာသော အမိန့်တော်များကို ဦးထိပ်ရွက်ပန်ဆင်ရန် ပြေးလွှားကြသည်။

ပြီးနောက် ထိုအသက်ဝိညာဉ်များနှင့်ပတ်သက်၍ ကောင်းကျိုးပေးရန်ဖြစ်စေ၊ ပြစ်ဒဏ်ခတ်ရန်ဖြစ်စေ ကျရောက်လာသော တာဝန်ကိစ္စအဝဝကို စီမံဆောင်ရွက်ကြပေသည်။ အလ္လာဟ်အရှင်မြတ်သည် ယင်းသို့သော ကောင်းကင်တမန်များအား "ကစမ်" ဆိုတော်မူပြီး "ကိယာမတ်သည် မုချဖြစ်မည်"ဟု မိန့်ကြားတော်မူသည်။

ကိယာမတ်နေ့တွင်ကား ပထမတစ်ကြိမ် တံပိုးမှုတ်မည်။ ထို့နောက် ဒုတိယအကြိမ် တံပိုးမှုတ်မည်။ ထိုနေ့တွင် မြောက်မြားစွာသော စိတ်နှလုံးများသည် တုန်လှုပ်ချောက်ချားလျက် ရှိပေမည်။ ၎င်းတို့၏ မျက်စိများသည် အောက်သို့စိုက်လျက် ရှိပေမည်။ သို့တစေလည်း ဤကာဖိရ်များသည် ကိယာမတ်ကို ငြင်းဆန်လျက်ပင် ရှိကြပေသည်။

ءَاِذَا كُنَّا عِظَامًا نَّخِرَةً ﴿١١﴾

၁၁။ ကျွန်ုပ်တို့သည် ဆွေးမြည့်သော အရိုးများသာ ကျန်ရှိသောအခါ (မူလအတိုင်း ပြန်လည်ရှင်ကြရဦးမည်)လော။

قَالُوْا تِلْكَ اِذًا كَرَّةٌ خَاسِرَةٌ ﴿١٢﴾

၁၂။ သို့ဖြစ်လျှင် ယင်း(ရှင်ပြန်ထခြင်း)သည် (ကျွန်ုပ်တို့အဖို့) ဆုံးရှုံးသော ရှင်ပြန်ထခြင်းပင် ဖြစ်ချေမည်ဟု ပြောဆိုကြလေသည်။

فَاِنَّمَا هِيَ زَجْرَةٌ وَّاحِدَةٌ ﴿١٣﴾

၁၃။ စင်စစ် ထိုအရာကား ပြင်းထန်လှစွာသော အသံတခုသာလျှင် ဖြစ်ပေမည်။

فَاِذَا هُمْ بِالسَّاهِرَةِ ﴿١٤﴾

၁၄။ ထိုအခါ လူအားလုံးတို့သည် မြေမျက်နှာပြင်သို့ ရုတ်တရက်ပင် ရှိလာကြအံ့သတည်း။ [၁]

هَلْ اَتٰىكَ حَدِيْثُ مُوْسٰى ﴿١٥﴾

၁၅။ (အို-နဗီတမန်တော်) အသင့်ထံ (နဗီတမန်တော်)မူစာ၏အကြောင်း အတ္တုပ္ပတ္တိသည် ရောက်လာခဲ့လေပြီလော။

اِذْ نَادٰىهُ رَبُّهٗ بِالْوَادِ الْمُقَدَّسِ طُوًى ﴿١٦﴾

၁၆။ တရံရောအခါဝယ် ထို(နဗီတမန်တော်)မူစာ၏အရှင်မြတ်သည် ထို(နဗီတမန်တော်)မူစာအား "တွုဝါ" အမည်ရှိ ထူးမြတ်သောတောင်ကြားအရပ်၌ ဟစ်ခေါ်တော်မူခဲ့၏။

---

① ယင်းသို့သော ကာဖိရ်များက "ကျွန်ုပ်တို့သည် ယခင်အခြေအနေသို့ (ဝါ) သေပြီးနောက်တဖန် ပြန်လည်ရှင်ထကြရဦးမည်လော၊ ကျွန်ုပ်တို့သည် ဆွေးမြည့်သော အရိုးများဖြစ်ကြပြီးနောက် ယခင်မူလအတိုင်း တဖန်ပြန်လည် ဖြစ်ကြရဦးမည်လော၊ အကယ်၍သာ ဤသို့ဖြစ်ရပါသော် ကျွန်ုပ်တို့အဖို့ ဆုံးရှုံးမှုကြီး ဖြစ်ရချိမ့်မည်" ဟု ပြက်ရယ်သည့်သဘောဖြင့် ပြောဆိုကြသည်။ ကာဖိရ်များ၏ ယူဆချက်အရ ကိယာမတ် မဖြစ်နိုင်၊ ဖြစ်မည်လည်းမဟုတ်။

အမှန်မှာ ယင်းသို့သော ကာဖိရ်များ သိထားအပ်သည်မှာ အံ့ချီးမဆုံးသော စကြာဝဠာအဝန်းကို စတင် ဖန်ဆင်းတော်မူသော တန်ခိုးတော်အနန္တ၊ ဉာဏ်တော်အနန္တနှင့်ပြည့်စုံတော်မူသော အလ္လာဟ်အရှင်မြတ်အဖို့ ကိယာမတ်ဖြစ်ပေါ်စေရန်မှာ မည်သို့မျှ အခက်အခဲမရှိပေ။ ကိယာမတ်သည် အလွန်ပြင်းထန်သော အသံကြီးတစ်ခုသာဖြစ်ပေမည်။ ထိုအခါ သတ္တဝါအပေါင်းတို့သည် ကမ္ဘာ့သတ္တဝါအားလုံး စုရုံးရာ "မဟ်ရှ်ရ်" ကွင်းပြင်ကြီးသို့ ရုတ်တရက် ရောက်ရှိလာကြပေမည်။ (ထာနဝီ)။ ➤➤

| | |
|---|---|
| ၁၇။ အသင်သည် ဖစ်ရ်အောင်န်၏ထံသို့ သွားပါလေ။ ကေန်မလွဲ ထိုဖစ်ရ်အောင်န်သည် လွန်စွာရက်စက်ကြမ်းကြုတ်လျက် ရှိနေလေပြီ။ | اِذۡهَبۡ اِلٰى فِرۡعَوۡنَ اِنَّهٗ طَغٰى ﴿١٧﴾ |
| ၁၈။ သို့ဖြစ်ပေရာ အသင်သည် (၎င်း၏ထံသို့ သွားရောက်ပြီးလျှင် ဤသို့)ပြောကြားပါလေ။ (အိုဖစ်ရ်အောင်န်) အသင်၌ မိမိ စင်ကြယ်သန့်ရှင်းအပြစ်ကင်းရန်လည်းကောင်း။ | فَقُلۡ هَلۡ لَّكَ اِلٰٓى اَنۡ تَزَكّٰى ﴿١٨﴾ |
| ၁၉။ ကျွန်ုပ်သည် အသင့်အား အသင်၏အရှင်မြတ်အထံတော်သို့ လမ်းညွှန်၍ပေးရန်လည်းကောင်း၊ ဆန္ဒရှိလေသလော။ သို့ဖြစ်လျှင် အသင်သည် (ထိုအရှင်မြတ်အား) ကြောက်ရွံ့ရှိသေသောသူ ဖြစ်လာပေမည်။ | وَاَهۡدِيَكَ اِلٰى رَبِّكَ فَتَخۡشٰى ﴿١٩﴾ |
| ၂၀။ ထိုနောက် ထို(နဗီတမန်တော်)မူစာသည် ၎င်းဖစ်ရ်အောင်န်အား အကြီးကျယ်ဆုံးသော သက်သေလက္ခဏာ တန်ခိုးတော်ကို ပြသခဲ့လေသည်။ | فَاَرٰىهُ الۡاٰيَةَ الۡكُبۡرٰى ﴿٢٠﴾ |
| ၂၁။ သို့ပါလျက် ထိုဖစ်ရ်အောင်န်သည် (နဗီတမန်တော်မူစာအား) မဟုတ်မမှန်ဟူ၍ ငြင်းပယ်ခဲ့သည့်ပြင် (ထိုနဗီတမန်တော်မူစာ၏ ဟောကြားချက်များကိုလည်း) ဖီဆန်ခဲ့လေသည်။ | فَكَذَّبَ وَعَصٰى ﴿٢١﴾ |
| ၂၂။ ထို့နောက် ထိုဖစ်ရ်အောင်န်သည် (နဗီတမန်တော်မူစာအား) ကျောခိုင်း၍ (ကမ္ဘာမြေဝယ် ဆူပူသောင်းကျန်းရန်) ကြိုးပမ်းလေတော့သည်။ | ثُمَّ اَدۡبَرَ يَسۡعٰى ﴿٢٢﴾ |

➤➤ ဤအာယတ်တော်များကို မုဖတ်စစ်ရ်များသည် အနက်အမျိုးမျိုး ဖွင့်ထားကြသည်။ ကျမ်းလေးမည်စိုး၍ မရေးပြီ။ အကျယ်သိလိုပါက အိဗ်နုဂျရီရ်၊ အိဗ်နုကဆီရ်၊ ကရ္ဂုရာဗ်၊ ဗိုင်သွာဝီ၊ တဖ်စီရ် အဗူစုအုဒ်၊ ခါဇင်န်၊ ဒူရ်ရိမန်ဆူရ်စသည့် ကျမ်းကြီးများတွင် ရှုပါကုန်။

فَحَشَرَ فَنَادَىٰ ﴿٢٣﴾

၂၃။ ထို့နောက် ထိုဖစ်ရ်အောင်န်သည် (ပဥ္စလက်ဆရာများကိုလည်းကောင်း၊ စစ်သည် ရဲမက်တို့ကိုလည်းကောင်း၊) စုရုံးပြီးလျှင် (အသံကျယ်စွာ) ဟစ်အော်ခဲ့လေသည်။

فَقَالَ أَنَا رَبُّكُمُ الْأَعْلَىٰ ﴿٢٤﴾

၂၄။ ထို့နောက် ၎င်း(ဖစ်ရ်အောင်န်)က "ကျွန်ုပ်သည်ပင် အသင်တို့၏ မြင့်မြတ်ဆုံးသော အရှင်ဖြစ်သည်" ဟု ပြောဆို(ကြေညာ)ခဲ့လေသည်။

فَأَخَذَهُ اللَّهُ نَكَالَ الْآخِرَةِ وَالْأُولَىٰ ﴿٢٥﴾

၂၅။ သို့ဖြစ်ပေရာ အလ္လာဟ်အရှင်မြတ်သည် ထိုဖစ်ရ်အောင်န်အား အာခိရတ်တမလွန်ဘဝ၏ ပြစ်ဒဏ်၌လည်းကောင်း၊ လောကီဘဝ၏ပြစ်ဒဏ်၌လည်းကောင်း၊ ဖမ်းဆီး ကွပ်မျက်တော်မူခဲ့လေသည်။ ၁

إِنَّ فِي ذَٰلِكَ لَعِبْرَةً لِّمَن يَخْشَىٰ ﴿٢٦﴾

၂၆။ ဧကန်မလွဲ ထို(အကြောင်းအတ္တုပ္ပတ္တိ)၌ (အလ္လာဟ်အရှင်မြတ်အား) ကြောက်ရွံ့ရိုသေသောသူအဖို့ သတိပေး နှိုးဆော်ချက်သည် အမှန်ပင် ရှိပေသတည်း။

---

၁ **တမန်တော်မူစာအား သွေးပည်ငြင်းဆန်ခဲ့သော ဖစ်ရ်အောင်န်သည် ၂-ဘဝလုံးတွင် ပျက်စီးရပြီ။**

တမန်တော်မူစာသည် အစ္စရာအီလီ မျိုးနွယ်ဝင်များကို ကယ်တင်ရန်အလို့ငှာသာ ပွင့်လာခဲ့သည်မဟုတ်၊ ဖစ်ရ်အောင်န်အားလည်း တရားဟောကြားရန် အလို့ငှာ ပွင့်လာခဲ့ခြင်းဖြစ်ပေသည်။

တမန်တော်မူစာသည် အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်အရ ဖစ်ရ်အောင်န်ထံ သွားရောက်၍ အလ္လာဟ်အရှင်မြတ်၏တရားတော်များကို ဟောကြားခဲ့သည်။ မိမိဟောကြားသော တရားတော်များသည် အလ္လာဟ်အရှင်မြတ်၏တရားတော်ဖြစ်ကြောင်း သက်သေသာဓကအဖြစ် အကြီးဆုံး (မုအ်ဂျိဇဟ်) တန်ခိုးဖြစ်သော တောင်ဝှေးမြွေဖြစ်သည့် တန်ခိုးတော်ကို ပြခဲ့လေသည်။

သို့တစေလည်း မောက်မာပလွှားဝင့်ကြွားနေခဲ့သော ဖစ်ရ်အောင်န်သည် တမန်တော်မူစာ၏တရားတော်ကို မနာခံခဲ့ပေ။ မနာခံခဲ့သည်သာမက တမန်တော်မူစာနှင့် ယှဉ်ပြိုင်ရန်အတွက် စုန်းမှော် ဆရာများအား စုစည်းခဲ့လေသည်။ ထို့နောက် မောက်မာပလွှား ဝင့်ဝါသောအားဖြင့် "ကျွန်ုပ်သည် အသင်တို့၏ အကြီးဆုံးသော အရှင်သခင်ဖြစ်သည်" ဟူ၍ပင် ကြွေးကျော်ခဲ့လေသည်။

နောက်ဆုံးတွင် အလ္လာဟ်အရှင်မြတ်သည် ဖစ်ရ်အောင်န်အား ၂-ဘဝလုံး၏ ပြစ်ဒဏ်ခတ်တော်မူလိုက်လေသည်။ ဤသည့် ဖြစ်ရပ်ကား အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့သူများအဖို့ သင်ခန်းစာပင်။

ءَأَنتُمْ أَشَدُّ خَلْقًا أَمِ السَّمَاءُ ۚ بَنَاهَا ﴿٢٧﴾

၂၇။ အသို့ပါနည်း၊ အသင်တို့အား ဖန်ဆင်းတော်မူခြင်းသည် ပို၍ခဲယဉ်းလေသလော၊ သို့တည်းမဟုတ် မိုးကောင်းကင်ကို ဖန်ဆင်းတော်မူခြင်းသည် ပို၍ခဲယဉ်းလေသလော။ ထိုအရှင်မြတ်သည် ယင်း မိုးကောင်းကင်ကို ပြုလုပ်(ဖန်ဆင်း)တော်မူခဲ့၏။

رَفَعَ سَمْكَهَا فَسَوَّاهَا ﴿٢٨﴾

၂၈။ ထိုအရှင်မြတ်သည် ယင်းမိုးကောင်းကင်၏ မျက်နှာကျက်ကို မြင့်စွင့်စွာပြုလုပ်တော်မူခဲ့၏။ တဖန် ယင်းမိုးကောင်းကင်ကို အပြစ်အနာ ကင်းရှင်းစွာ ပြုလုပ်တော်မူခဲ့၏။

وَأَغْطَشَ لَيْلَهَا وَأَخْرَجَ ضُحَاهَا ﴿٢٩﴾

၂၉။ ၎င်းပြင် ထိုအရှင်မြတ်သည် ယင်း မိုးကောင်းကင်၏ ညဉ့်ကို မှောင်မိုက်စေတော်မူခဲ့၏။ ထို့ပြင် ယင်းမိုးကောင်းကင်၏ နေ့ကိုမူကား (လင်းဝင်း)ထင်ရှားစေတော်မူခဲ့၏။ [၁]

وَالْأَرْضَ بَعْدَ ذَٰلِكَ دَحَاهَا ﴿٣٠﴾

၃၀။ ၎င်းပြင် ထိုအရှင်မြတ်သည် ယင်း(မိုးကောင်းကင်ကို စနစ်တကျ ပြုပြင်တော်မူပြီးသည့်) နောက်တွင် ပထဝီမြေကို ဖြန့်ခင်းတော်မူခဲ့၏။

---

(၁) အလ္လာဟ်အရှင်မြတ်သည် မဟာတန်ခိုးတော်ရှင်ဖြစ်တော်မူသည်။ စကြာဝဠာအဝန်းကို ဖန်ဆင်းထားတော်မူသည်။ ထိုအရှင်မြတ်အဖို့ မည်သည်ကို ဖန်ဆင်းခြင်းက ခက်သည်၊ မည်ဝါကို ဖန်ဆင်းခြင်းက လွယ်သည်ဟူ၍ အလျှင်းမရှိ။ ထိုအရှင်မြတ်အဖို့ အခက်မရှိ၊ အလွယ်ချည်းသာဖြစ်သည်။

အလ္လာဟ်အရှင်မြတ်အဖို့ ထိုအရှင်မြတ်အနေနှင့် မိုးကိုဖန်ဆင်းခြင်းနှင့် လူကို ဖန်ဆင်းခြင်းတွင် အလွယ်အခက်ဟူ၍ မရှိသော်လည်း၊ လူသားတို့၏ အမြင်တွင်မူ အတိုင်းမရှိ ထုထည်အလွန် ကြီးမားဆန်းပြားသော မိုးများကို ဖန်ဆင်းခြင်းသည် အရပ်အမောင်း သေးငယ်လှသော လူသားအား ဖန်ဆင်းခြင်းထက် ခဲယဉ်းခက်ခဲမည်သာ ဖြစ်သည်။ (ဤကား လူ့အမြင်တွင်) ယင်းသို့ ခဲယဉ်းသော မိုးများကို ဖန်ဆင်းတော်မူနိုင်သော အရှင်အဖို့ ဤသည့် လူသားတို့အား (ယခင်တစ်ကြိမ် ဖန်ဆင်းပြီးနောက်) ပြန်လည်ရှင်ပြန်ထစေရာတွင် အသို့လျှင် အခက်အခဲ ရှိအံ့နည်း။ ကြည့်-ကုရ်အာန် (၂၆း၇၇-၈၃။ ၄၀း၅၇)။

မိုးကောင်းကင်သည် အတိုင်းမသိ ကြီးမား၏၊ မြင့်စွင့်၏၊ ကျယ်ပြန့်၏၊ ခိုင်ခံ့၏၊ ကြည်လင်၏။ နေ၊ လ၊ ဂြိုဟ်၊ နက္ခတ်တာရာအပေါင်းတို့သည် ကိုယ့်လမ်းနှင့်ကိုယ် စနစ်တကျ ဝင်ထွက်သွားလာလျက် ရှိကြ၏။ ညဉ့်၏အမှောင်ကား တစ်မျိုး၊ နေ့၏အလင်းကား တစ်နည်း၊ ညဉ့်ရှုမျှော်ခင်းကား တစ်မျိုး၊ နေ့၏ ရှုမျှော်ခင်းကားတစ်နည်း၊ ရှုမညီးတည်း။

أَخْرَجَ مِنْهَا مَاءَهَا وَمَرْعَاهَا ﴿٣١﴾

၃၁။ ထိုအရှင်မြတ်သည် ထိုပထဝီမြေမှ ယင်းပထဝီမြေ၏ရေကိုလည်းကောင်း၊ ယင်းပထဝီမြေ၏မြက်၊ သစ်ပင်၊ ကောက်ပဲသီးနှံ၊ အစရှိသည်များကိုလည်းကောင်း၊ ထွက်စေတော်မူခဲ့၏။

وَالْجِبَالَ أَرْسَاهَا ﴿٣٢﴾

၃၂။ ၎င်းပြင် ထိုအရှင်မြတ်သည် တောင်များကို (ယင်းပထဝီမြေ၌) ကျောက်ဆူး(အဖြစ်) ချထားတော်မူခဲ့၏။

مَتَاعًا لَّكُمْ وَلِأَنْعَامِكُمْ ﴿٣٣﴾

၃၃။ အသင်တို့၏အကျိုးငှာလည်းကောင်း၊ အသင်တို့၏ကုလားအုတ်၊ ကျွဲ၊နွားတိရစ္ဆာန်တို့၏အကျိုးငှာလည်းကောင်း။ ①

فَإِذَا جَاءَتِ الطَّامَّةُ الْكُبْرَىٰ ﴿٣٤﴾

၃၄။ အကြင်အခါဝယ် ထိုကြီးကျယ်လှစွာသော ဘေးဒုက္ခကြီးသည် ဆိုက်ရောက်လာခဲ့ပေမည်။

يَوْمَ يَتَذَكَّرُ الْإِنسَانُ مَا سَعَىٰ ﴿٣٥﴾

၃၅။ (ဝါ)အကြင်နေ့တွင် လူသားတို့သည် မိမိတို့ကြိုးပမ်း ဆောင်ရွက်ခဲ့သမျှတို့ကို သတိရကြပေမည်။

وَبُرِّزَتِ الْجَحِيمُ لِمَن يَرَىٰ ﴿٣٦﴾

၃၆။ ၎င်းပြင် “ဂျဟန္နမ်” ငရဲသည် ကြည့်ရှုသောသူတို့၏ရှေ့ဝယ် ထင်ရှားစွာ ပေါ်လာစေခြင်းကို ခံရပေမည်။

---

① အလ္လာဟ်အရှင်မြတ်သည် ပထဝီမြေကြီးကို ဖြန့်ခင်းထားတော်မူသည်။ ထိုအရှင်မြတ်သည် ထိုပထဝီမြေကြီးတွင် သမုဒ္ဒရာ ပင်လယ်၊ မြစ်ကြီးမြစ်ငယ် အသွယ်သွယ်တို့ကို စီးတွေစေတော် မူသည်။ သီးနှံမျိုးစုံကို ပေါက်ပွားစေတော်မူသည်။ ထိုအရှင်မြတ်သည် ပထဝီမြေကြီး တည်ငြိမ်စွာရှိရန်အတွက် တောင်များကို ကျောက်ဆူးချထားတော်မူသည်။ ဤသည် လူသားတို့နှင့် ၎င်းတို့၏ တိရစ္ဆာန်များ၏ အကျိုးငှာသာ ဖြစ်သည်။

ဤသည်တို့ကို စဉ်းစားဆင်ခြင်ပါက အလ္လာဟ်အရှင်မြတ်သည် တန်ခိုးတော်အရှင်၊ ဉာဏ်တော်အရှင်၊ ကျေးဇူးတော်အရှင် ဖြစ်တော်မူသည်ကို သိရှိပေမည်။ ထိုသို့သော တန်ခိုးတော်ရှင်အဖို့ ဆွေးမြည့်နေသော အရိုးများကို ပြန်လည်ရှင်ထအောင် ပြုလုပ်ရန် အသို့လျှင် အခက်အခဲရှိနိုင်အံ့နည်း။

သို့ဖြစ်ရာ လူသားတို့သည် ထိုသို့သော တန်ခိုးတော်ရှင်အား ကြောက်ရွံ့ရိုသေခန့်ညားရပေမည်။ ထိုသို့သော ကျေးဇူးတော်ရှင်အား ကျေးဇူးတုံ့ပြန်ရပေမည်။ သို့မဟုတ်ပါမူ ကိယာမတ်နေ့တွင် အရှက်တကွဲ အကျိုးနည်းဖြစ်ရချိမ့်မည်။

فَأَمَّا مَنْ طَغَىٰ ﴿٣٧﴾

၃၇။ ထိုအခါ အကြင်သူသည် လွန်စွာ သွေဖည်(သောင်းကျန်း)ခဲ့လေသည်။

وَآثَرَ الْحَيَاةَ الدُّنْيَا ﴿٣٨﴾

၃၈။ ၎င်းပြင် ထိုသူသည် လောကီဘဝကို ဦးစားပေးခဲ့လေသည်။

فَإِنَّ الْجَحِيمَ هِيَ الْمَأْوَىٰ ﴿٣٩﴾

၃၉။ သို့ဖြစ်လျှင် ဧကန်မလွဲ "ဂျဟန္နမ်" ငရဲသာလျှင် (ထိုသူ၏)ခိုကိုးရာဌာန ဖြစ်ချိမ့်မည်။

وَأَمَّا مَنْ خَافَ مَقَامَ رَبِّهِ وَنَهَى النَّفْسَ عَنِ الْهَوَىٰ ﴿٤٠﴾

၄၀။ သို့ရာတွင် အကြင်သူသည် မိမိအား ဖန်ဆင်းတော်မူသောအရှင်မြတ်၏ ရှေ့တော်မှောက်ဝယ် မတ်တပ်ရပ်ရမည်ကို ကြောက်ရွံ့စိုးရိမ်ခဲ့လေသည်။ ၎င်းပြင် ထိုသူသည် စိတ်ကိုလည်း (မကောင်းသော) အလိုဆန္ဒများမှ တားမြစ်ခဲ့လေသည်။

فَإِنَّ الْجَنَّةَ هِيَ الْمَأْوَىٰ ﴿٤١﴾

၄၁။ သို့ဖြစ်လျှင် ဧကန်မလွဲ "ဂျန္နတ်" သုခဘုံသည်သာလျှင် (ထိုသူ၏)ခိုကိုးရာဖြစ်အံ့သတည်း၊ [၁]

يَسْأَلُونَكَ عَنِ السَّاعَةِ أَيَّانَ مُرْسَاهَا ﴿٤٢﴾

၄၂။ (အို-နဗီတမန်တော်) ၎င်းတို့သည် အသင့်အား "ကိယာမတ်" ရှင်ပြန်ထမည့်နေ့နှင့်စပ်လျဉ်း၍ ယင်း "ကိယာမတ်" ရှင်ပြန်ထမည့်နေ့သည် မည်သည့် အချိန်အခါ၌ ဆိုက်ရောက်အံ့နည်းဟု မေးမြန်းကြကုန်၏။

---

(၁) ကိယာမတ်ဖြစ်သောအခါ လူသားတို့သည် လူ့လောကတွင် မိမိတို့ပြုကျင့်ခဲ့ကြသော အရာအားလုံးကို သတိရလာပေမည်။ "ဂျဟန္နမ်" ငရဲသည်လည်း အထင်အရှား တွေ့မြင်ရပေမည်။ လူ့လောကတွင် အမှန်တရားကို သွေဖည်ငြင်းဆန်၍ နောင်တမလွန်ကို ကျောခိုင်းကာ လောကီဘဝကိုသာ အသားပေးခဲ့သော သူများသည် ငရဲဘုံသို့ လားကြရမည်သာဖြစ်သည်။

နောင်တမလွန်ဘဝ၌ အလ္လာဟ်အရှင်မြတ်၏ ရှေ့တော်မှောက်တွင် အစစ်ဆေးခံရန်အတွက် မတ်တပ်ရပ်ရမည်ကို စိုးရိမ်၍ မိမိစိတ်၏ အလိုဆန္ဒများကို မလိုက်နာခဲ့ဘဲ၊ မိမိ၏စိတ်ကို အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်များနောက်သို့ လိုက်စေခဲ့သော သူများသည် ဂျန္နတ် သုခဘုံသို့ လားကြရပေမည်။

فِيمَ أَنتَ مِن ذِكْرَاهَا ﴿٤٣﴾

၄၃။ ယင်း "ကိယာမတ်" ရှင်ပြန်ထမည့်နေ့ (ဆိုက်ရောက်မည့်အကြောင်းကို) ထုတ်ဖော် ပြောပြခြင်းသည် အသင်နှင့် မည်သို့ ပတ်သက်ပါသနည်း။

إِلَىٰ رَبِّكَ مُنتَهَاهَا ﴿٤٤﴾

၄၄။ ယင်း "ကိယာမတ်" ရှင်ပြန်ထမည့်နေ့(နှင့် စပ်လျဉ်းသောအသိပညာ)၏ အဆုံးမှာ အသင့်အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်၏ အထံတော်၌သာ ဖြစ်ပေသည်။ [၁]

إِنَّمَا أَنتَ مُنذِرُ مَن يَخْشَاهَا ﴿٤٥﴾

၄၅။ အသင်သည် ယင်း "ကိယာမတ်" ရှင်ပြန်ထမည့်နေ့ကို တွေ့မြင်ကြသောနေ့တွင် မိမိတို့မှာ (ကမ္ဘာလောက လောကီဘဝ၌) တစ်ညနေချမ်းမျှ သို့မဟုတ် ထိုညနေချမ်း၏ တစ်နံနက်ခင်းမျှသာ နေထိုင်ခဲ့ဘိသကဲ့သို့ ထင်မှတ်ကြအံ့သတည်း။ [၂]

كَأَنَّهُمْ يَوْمَ يَرَوْنَهَا لَمْ يَلْبَثُوا إِلَّا عَشِيَّةً أَوْ ضُحَاهَا ﴿٤٦﴾

၄၆။ ၎င်းတို့သည် ယင်းကိယာမတ် ရှင်ပြန်ထမည့်နေ့ကို တွေ့မြင်ကြသောနေ့တွင် မိမိတို့မှာ (ကမ္ဘာလောက လောကီဘဝ၌ တညနေချမ်းမျှ သို့မဟုတ် ထိုညနေချမ်း၏ တနံနက်ခင်းမျှသာ နေထိုင်ခဲ့ဘိသကဲ့သို့ ထင်မှတ်ကြအံ့သတည်း။

---

(၁) "ကိယာမတ်သည် မည်သည့်အချိန်အခါတွင် ကျရောက်မည်နည်း"ဟု လူအများက တမန်တော်မြတ်အား မေးမြန်းကြသည်။ ဤမေးခွန်းနှင့်စပ်လျဉ်း၍ ဖြေကြားရန် တမန်တော်မြတ်၌ တာဝန်မရှိ။ ဤမေးခွန်းသည် တမန်တော်မြတ်အား မေးရန်လည်းမဟုတ်ပေ။အဘယ်ကြောင့်ဆိုသော် ဤမေးခွန်းကို အတိအကျ ဖြေဆိုရန် ကိယာမတ်နှင့်စပ်လျဉ်း၍ အတိအကျသိလိုပေသည်။ ထိုသည့်အသိသည် အလ္လာဟ်အရှင်မြတ်၌သာ ရှိသည်၊ ထိုအရှင်မြတ်မှတပါး အခြားမည်သူ တစ်ဦးတစ်ယောက်မျှမရှိပေ။ တမန်တော်မြတ်၌ လည်းမရှိပေ။တမန်တော်မြတ်သည် ကိယာမတ်ကိုကြောက်ရွံ့သောသူများအား ကိယာမတ်သည် တစ်ရက်မဟုတ်တစ်ရက် ဆက်ဆက်ဖြစ်မည့်အကြောင်း၊ ကိယာမတ်၏သဘော၊ ကိယာမတ်၏ ရှေ့ပြေး နိမိတ်လက္ခဏာများကို ပြောပြ၍ သတိပေးတော်မူရမည် ဖြစ်ပေသည်။ မိမိတို့၏ နောင်ရေး စိုးရိမ်သောသူများသည် ဆင်ခြင်ကြပေမည်။ မိမိတို့၏နောင်ရေး မစိုးရိမ်သော သူမိုက်တို့မူကား "ကိယာမတ် မည်သည့်ခုနှစ်၊ သက္ကရာဇ်၊ မည်သည့်လ၊ မည်သည့်နေ့ရက်၊ မည်သည့်အချိန်တွင် ဖြစ်မည်နည်း" စသည်ဖြင့် မေးမြန်းကာ အချိန်ဖြုန်းလျက် သာ ရှိကြပေသည်။

(၂) ယခုသော် ကိယာမတ် ဘယ်သောအခါ ဖြစ်မည်နည်းဟု မေးမြန်းနေကြသည်။ ထိုသို့သောသူများသည် ကိယာမတ်ဖြစ်သောအခါ လူ့လောကတွင် မိမိတို့ နေခဲ့ကြရသည့်သက်တမ်းကို တစ်နေ့ မဟုတ်၊ တစ်နေ့၏ နံနက်ခင်း၊ သို့မဟုတ် ညနေချမ်းမျှသာဖြစ်သည်ဟူ၍ ထင်မြင်ယူဆကြပေမည်။ ကိယာမတ်သည် ဖြစ်မည်၊ မုချဖြစ်မည်၊ အမှန်ဖြစ်မည်၊ ဖြစ်အံ့သောအရာသည် မဝေးလှပြီ။ သို့ဖြစ်ရာ ကိယာမတ် အဘယ်အခါဖြစ်မည်ကို မေးမြန်းစုံစမ်းနေရန်မလို၊ ကိယာမတ်နေ့ မှတ်ကျောက်အတင်ခံနိုင်ရန်အတွက် အသင့်ပြင်ဆင်ထားရန်သာလိုပေသည်။

# သူ မျက်မှောင်ကြုတ်သည်ကဏ္ဍ



ဤကဏ္ဍသည် "အဗစသူ မျက်မှောင်ကြုတ်သည်"ဟူသော အကြောင်း ပါဝင်သော ကဏ္ဍဖြစ်သည်။ ဤကဏ္ဍသည် မက္ကာမြို့တော်၌ ကျရောက်ခဲ့သည်။ ဤကဏ္ဍတွင် အာယတ်တော် (၄၂)ပါး၊ ရကူအ် အပိုဒ် (၁)ပိုဒ် အသီးသီးပါရှိသည်။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ ○

မပြတ်မစဲ သနားကြင်နာ ညှာတာတော်မူသော မဟာကရုဏာတော်ရှင် ဖြစ်တော်မူသော အလ္လာဟ်အရှင်မြတ်၏ နာမံတော်ဖြင့် အစပြုပါ၏။

عَبَسَ وَتَوَلّٰىٓ ①

၁။ ထို(နဗီတမန်တော်မြတ်)သည် မျက်မှောင်ကြုတ်ခဲ့သည့်ပြင် မျက်နှာလည်း လွှဲခဲ့လေသည်။ [မကြည်မသာ မျက်နှာသုန်မှုန်စွာဖြင့် မျက်နှာလွှဲ၍ နေခဲ့လေသည်။]

اَنْ جَآءَهُ الْاَعْمٰى ②

၂။ မိမိထံသို့ မျက်စိမမြင်သောသူ ဝင်ရောက်၍ လာခဲ့သောကြောင့်။

وَمَا يُدْرِيْكَ لَعَلَّهٗ يَزَّكّٰىٓ ③

၃။ အသင် သိပါသလော၊ စင်စစ် မျက်စိမမြင်သောသူသည် စင်ကြယ်သန့်ရှင်းသူဖြစ်တန်ရာသည်။

اَوْ يَذَّكَّرُ فَتَنْفَعَهُ الذِّكْرٰى ④

၄။ သို့တည်းမဟုတ် ထိုသူသည် တရားရသွားနိုင်ပေသည်။ (ဆင်ခြင်နိုင်ပေသည်)။ သို့ဖြစ်လျှင် ဆုံးမသြဝါဒပေးခြင်းသည် ထိုသူအား အကျိုးဖြစ်ထွန်းစေနိုင်မည်။

اَمَّا مَنِ اسْتَغْنٰى ⑤

၅။ မည်သို့ပင်ဖြစ်စေ အကြင်သူသည် အလေးမမူ ဂရုမစိုက်ခဲ့ချေ။

فَاَنْتَ لَهٗ تَصَدّٰى ⑥

၆။ သို့ပါလျက် အသင်သည် ထိုသူအား ဂရုစိုက် အရေးပေးသည်။

وَمَا عَلَيْكَ اَلَّا يَزَّكّٰى ۝٧

၇။ စင်စစ်သော်ကား ထိုသူ မစင်ကြယ်သည့်အတွက် အသင့်အပေါ်၌ မည်သို့မျှ အပြစ်မရှိချေ။

وَاَمَّا مَنْ جَآءَكَ يَسْعٰى ۝٨

၈။ သို့ရာတွင် မည်သို့ပင်ဖြစ်စေ၊ အကြင်သူသည် အသင့်ထံသို့ အပြေးအလွှားရောက်ရှိလာခဲ့လေသည်။

وَهُوَ يَخْشٰى ۝٩

၉။ ထိုမှတပါး ထိုသူသည် (အလ္လာဟ်အရှင်မြတ်အား) ကြောက်ရွံ့ရှိသေသူလည်း ဖြစ်ခဲ့ပေသည်။

فَاَنْتَ عَنْهُ تَلَهّٰى ۝١٠

၁၀။ သို့ပါလျက် အသင်သည် ထိုသူအား အရေးမပေး လျစ်လျူရှုခဲ့ပေသည်။ ၁

كَلَّآ اِنَّهَا تَذْكِرَةٌ ۝١١

၁၁။ (အို-နဗီတမန်တော်၊ အသင်သည်) ဤသို့ အလျင်းမပြုပါလေနှင့်။ ဤ(ကုရ်အာန်ကျမ်းတော်မြတ်)သည် ဆုံးမသြဝါဒပင်ဖြစ်ပေသည်။

---

**(၁) တမန်တော်မြတ်သည်ပင် သတိပေးတော်မူခြင်း ခံခဲ့ရရှာခြင်း။**

တစ်နေ့သောအခါ တမန်တော်မြတ်သည် ကုရိုက်ရှ် မျိုးနွယ်၏ အချို့ အကြီးအကဲများအား အစ္စလာမ်၏ သဘောတရားများကို ရှင်းလင်းပြနေတော်မူခဲ့၏။ ယင်းသို့သော အကြီးအကဲများ အစ္စလာမ်အတွင်းသို့ ဝင်လာကြပါက တစ်နွယ်ငင်တစ်စင်ပါ ဆိုသကဲ့သို့ ၎င်းတို့၏ နောက်လိုက်ငယ်သားများလည်း အစ္စလာမ် အတွင်းသို့ ဝင်လာကြမည်ကို တမန်တော်မြတ်သည် မျှော်လင့်လျက် ရှိနေတော်မူခဲ့၏။

ထိုအချိန်တွင် တမန်တော်မြတ်ထံသို့ မျက်မမြင်သာဝကတစ်ပါး (အိဗ်နုအွမ် မိမတ်က်တူမ်) ရောက်ရှိလာပြီး တမန်တော်မြတ်အား အချို့အာယတ်တော်များနှင့်စပ်လျဉ်း၍ မေးမြန်းလေတော့၏။ တမန်တော်မြတ် ကုရိုက်ရှ် အကြီးအကဲများအား တရားဟောကြားနေတော်မူချိန်တွင် အခါအခွင့်အခြေအနေကို မထောက်ထားဘဲ ယင်းသို့ ဝင်ရောက်မေးမြန်းသည့်အတွက် တမန်တော်မြတ်သည် အနည်းငယ် စိတ်အနှောင့်အယှက် ဖြစ်သွားတော် မူခဲ့လေသည်။

တမန်တော်မြတ်၏စိတ်တွင် ငါသည် အလွန်အရေးကြီးသော ကိစ္စတွင် လုံးပန်းနေသည်။ကုရိုက်ရှ် မျိုးနွယ်၏ အကြီးအကဲများသည် အစ္စလာမ်ကို သဘောပေါက်နားလည်၍ အစ္စလာမ်ကို သက်ဝင်ယုံကြည် လာကြလျှင် များစွာသော ကုရိုက်ရှ်မျိုးနွယ်ဝင်များသည်လည်း အစ္စလာမ်အတွင်းသို့ ရောက်ရှိလာကြဖွယ်ရာ ရှိပေသည်။ အိဗ်နုအွမ်မိမတ်က်တူမ်သည် မဆွကပင် မွတ်စ်လင်မ် ဖြစ်နေခဲ့ချေပြီ။ သူ၏အဖို့ အစ္စလာမ်ကို သင်ကြားနာယူရန်အတွက် အခြားအချိန် အခွင့်အလမ်း အမြောက်အမြားရှိသည်။ ယခုအချိန် ငါ့ထံတွင် အရေးပါအရာရောက်သော ပုဂ္ဂိုလ်များ ထိုင်နေကြသည်ကို သူမမြင်။ အကယ်၍ ဤပုဂ္ဂိုလ်များ တရားရရှိလာ ကြပါက များစွာသော ကုရိုက်ရှ်မျိုးနွယ်ဝင်များသည် အစ္စလာမ်ကို လက်ခံလာကြပေမည်။ ငါသည် ယင်းသို့ အရေးပါသော ပုဂ္ဂိုလ်များအား အစ္စလာမ်အကြောင်း ဟောကြားနေသည်။ ➤➤

➤➤ ဤသူသည် (အခါအခွင့်ကို မထောက်ထားဘဲ) ကိုယ့်အလိုကိုသာ ဆက်တိုက် ပြောဆိုနေသည်။ အကယ်၍ ငါသည် ဤပုဂ္ဂိုလ်များဘက်မှ မျက်နှာလွှဲပြီး ဤသူ၏ဘက်သို့ အာရုံစူးစိုက်လိုက်ပါလျှင် ဤပုဂ္ဂိုလ်များသည် စိတ်အနှောင့်အယှက် ဖြစ်သွားကြပြီး ငါ၏စကားကိုပင် နားထောင်လိုမှ နားထောင်ကြတော့ပေမည်။ ဤသည်ကို ဤသူမသိဟူ၍ တမန်တော်မြတ်၏စိတ်တွင်း အတွေးပေါ်လာခဲ့ဟန်ရှိပေသည်။ သို့ဖြင့် တမန်တော်မြတ်သည် စိတ်အနှောင့်အယှက် ဖြစ်သွားတော်မူခဲ့လေသည်။ စိတ်အနှောင့်အယှက်ဖြစ်မှု၏ နိမိတ်လက္ခဏာများသည်လည်း တမန်တော်မြတ်၏ မျက်နှာတွင် ပေါ်လာခဲ့ပေသည်။ ထိုအခါ ဤအာယတ်တော်များ ကျရောက်လာခဲ့ပေသည်။

ယင်းသို့ အာယတ်တော်များ ကျရောက်လာပြီးသည့်နောက်ပိုင်းတွင် တမန်တော်မြတ်သည် အဆိုပါ မျက်မမြင် သာဝကအား မိမိထံရောက်လာလျှင် အထူးလေးစားစွာဖြင့် 'အို-အကြင်သူ၊ ထိုသူနှင့်ပတ်သက်၍ ကျွန်ုပ်၏အရှင်က ကျွန်ုပ်အား အရေးယူတော်မူခဲ့သည်၊ ကြွပါ' ဟု ခရီးဦးကြိုစကားဆိုကာ ဧည့်ခံတော်မူလေတော့သည်။

အမှန်မှာ ထိုမျက်မမြင်သာဝကသည် ဒုက္ခိတဖြစ်သည်၊ အခြေအနေနွမ်းပါးသည်။ အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့သည်၊ (စိုးရိမ်ကြီးစွာနှင့် လာခြင်းဖြစ်သည်)။ အမှန်တရားကို လိုလားသည်။ ထိုသို့ပုဂ္ဂိုလ်အား ပို၍သာ ထောက်ထားရပေမည်။ ထိုသို့သော ပုဂ္ဂိုလ်၏ အခြေအနေသည် တမန်တော်မြတ်၏ အလေးဂရုပြုခြင်းဖြင့် ပြောင်းသွားနိုင်ပေသည်။ ကောင်းသွားနိုင်ပေသည်။ စိတ်နှလုံး ဖြူစင်သွားနိုင်ပေသည်။ ယုတ်စွအဆုံး တရားစကား တစ်ခွန်းတပါဒပင် ကြားသွားရလျှင်ပင် စေတနာဖြင့် စဉ်းစားဆင်ခြင်ပေမည်။ တချိန်တွင် အကျိုးခံစားနိုင်ပေသည်။ အဆိုပါ ကာဖိရ် အကြီးအကဲများမူကား မောက်မာပလွှားမှု၊ ဘဝင်မြင့်မှု၊ အထင်ကြီးမှုများကြောင့် အမှန်တရားကို ဂရုမမူကြပေ၊ မကြားလိုကြပေ။ ၎င်းတို့အား ၎င်းတို့၏ မောက်မာမှုသည် အလ္လာဟ်အရှင်မြတ်နှင့် တမန်တော်မြတ် ရှေ့မှောက်တွင်ညွတ်ရန် ခွင့်မပြုပေ။

တမန်တော်မြတ်သည် ယင်းသို့သောပုဂ္ဂိုလ်များအား အစ္စလာမ်အတွင်းသို့ ၎င်းတို့၏နောက်လိုက်များသည်လည်း အစ္စလာမ်အတွင်းသို့ ဝင်လာကြပေမည်ဟူသော မျှော်လင့်ချက်ဖြင့် အထူး အလေးဂရုပြုလျက်ရှိပေသည်။ အမှန်မှာ ယင်းသို့ မောက်မာသော၊ ဘဝင်မြင့်နေသောပုဂ္ဂိုလ်များသည် တမန်တော်မြတ်၏ တရားဟောပြောခြင်းဖြင့် အဘယ်ကြောင့် တရားမရကြသနည်းဟူ၍ကား အလ္လာဟ်အရှင်မြတ်ထံတော်မှ တမန်တော်မြတ်အပေါ်၌ တစ်စုံတစ်ရာ အပြစ်တင်ဖွယ်ရာ မရှိချေ။ တမန်တော်မြတ်၏ တာဝန်မှာ တရားဟောကြားရန်သာ ဖြစ်ပေသည်။ ထိုသည့်တာဝန်ကို တမန်တော်မြတ်သည် ဆောင်ရွက်ခဲ့ချေပြီ။ ဆက်လက်ဆောင်ရွက်လျက် ရှိချေပြီ။

ထိုသည့်နောက်ပိုင်းတွင် ယင်းသို့ မောက်မာသောပုဂ္ဂိုလ်များအား တရားရစေလိုသောစေတနာဖြင့် အလွန်အကျွံ အလေးဂရုပြုရန် မလိုတော့ပေ။ သို့မဟုတ်ပါမူ အမှန်တရားကို အမှန်တကယ် လိုလားသော စိတ်စေတနာဖြူစင်သော မွတ်စ်လင်မ်များသည် တမန်တော်မြတ်၏ အလေးဂရုပြုခြင်းမှ လွတ်ကင်းသွားကြရပေမည်။ ထို့ပြင်တဝ အတွေးခေါင်သူများက တမန်တော်မြတ်သည် ဆင်းရဲသားများထက် ချမ်းသာကြွယ်ဝသူများကို လည်းကောင်း၊ မျက်နှာငယ်များထက် မျက်နှာကြီးများကိုလည်းကောင်း ပိုမိုအလေးဂရုပြုသည်ဟု တွေးထင်လာကြပေမည်။ တမန်တော်မြတ်နှင့် ပတ်သက်၍ အထင်လွဲမှား လာကြပေမည်။ သို့အထင်လွဲမှားမှု ပျံ့နှံ့လာပါက အစ္စလာမ်ကို ဖြန့်ချီရာတွင် လက်တစ်ဆုပ်စာမျှ မျက်နှာကြီးတစ်စု၏ မွတ်စ်လင်မ်ဖြစ်လာခြင်းဖြင့် ရအံ့သော အမြတ်ထက် အရှုံးကား ပို၍များချိမ့်မည်။ ဤသို့ကား မဖြစ်သင့်ရာသတည်း။

فَمَن شَآءَ ذَكَرَهُۥ ⑫
၁၂။ သို့ဖြစ်ပေရာ အလိုရှိသောသူသည် ယင်းဆုံးမ
သြဝါဒကို လေ့ကျက်မှတ်သားပေလိမ့်မည်။ [၁]

فِى صُحُفٍ مُّكَرَّمَةٍ ⑬
၁၃။ (ယင်းဆုံးမသြဝါဒသည်) ဂုဏ်ကျက်သရေနှင့်
ပြည့်စုံသော အရွက်များပေါ်၌ (ရေးသားပြီး)ဖြစ်၏။

مَّرْفُوعَةٍ مُّطَهَّرَةٍۭ ⑭
၁၄။ (ယင်းအရွက်များသည်) မြင့်မြတ်သော၊
စင်ကြယ်သန့်ရှင်းသော(အရွက်များ ဖြစ်သည်)။

بِأَيْدِى سَفَرَةٍ ⑮
၁၅။ (ယင်းအရွက်များသည်) ရေးသားကြသော
ကောင်းကင်တမန်တို့၏ လက်တွင်း၌ရှိ၏။ [၂]

كِرَامٍۭ بَرَرَةٍ ⑯
၁၆။ (ထိုကောင်းကင်တမန်များသည်) ဂုဏ်အင်ခြင်
ထူးကဲကြသော၊ သူတော်စင်များဖြစ်ကြကုန်သော
(ကောင်းကင်တမန်များ ဖြစ်ကြပေသတည်း)။

---

① **ကုရ်အာန်၏ ဂုဏ်အင်။**

မောက်မာပလွှား ဝါကြွားသော ချမ်းသာကြွယ်ဝသော မျက်နှာကြီး ကာဖိရ်များ ဤကုရ်အာန်ကို ရွတ်ဖတ်သရဇ္ဈာယ်ခြင်း မပြုပါက၊ ကုရ်အာန်ကျမ်းလာ အာယတ်တော်များကို မလိုက်နာကြပါက ကိုယ့်ကိုယ်ကို ကိုယ်တိုင် ဆုံးရှုံးနစ်နာအောင် ပြုလုပ်ခြင်းသာ ဖြစ်ပေသည်။ ကုရ်အာန်ကျမ်းမြတ်သည် ၎င်းတို့အား မည်သို့မျှ ဂရုမူသည်မဟုတ်။ တမန်တော်မြတ်သည်လည်း ၎င်းတို့အား မည်သို့မျှ ဂရုမူသည်မဟုတ်။ တမန်တော်မြတ်သည်လည်း ၎င်းတို့အား ထိုရွေ့ထိုမျှ အလေးဂရုပြုနေရန် မလိုပေ။ ကုရ်အာန်သည် ကမ္ဘာသူကမ္ဘာသား အားလုံးတို့အဖို့ အဆုံးအမ သြဝါဒဖြစ်သည်။ မိမိအကျိုးကို လိုလားသူသည် ကုရ်အာန်ကျမ်းမြတ်ကို ရွတ်ဖတ်သရဇ္ဈာယ်ပေမည်။ ကုရ်အာန်ကျမ်းလာ တရားတော်များကို လိုက်နာကျင့်သုံးပေမည်။

② မောက်မာပလွှား ဝါကြွားသော ချမ်းသာကြွယ်ဝသော မျက်နှာကြီး ကာဖိရ်များ ကုရ်အာန်ကျမ်းမြတ်ကို ရွတ်ဖတ်သရဇ္ဈာယ်ကြမှသာလျှင် ကုရ်အာန်၌ ဂုဏ်သိက္ခာရှိရမည်လော။ ဤသို့ အလျှင်းမဟုတ်၊ အဘယ်ကြောင့်ဆိုသော် ကုရ်အာန်ကျမ်းလာ အာယတ်တော်များကို ကောင်းကင်ထက်ဝယ် အလွန်မြင့်သော၊ မြင့်မြတ်သော၊ ဂုဏ်သိက္ခာရှိသော၊ ဖြူစင်သန့်ရှင်းသော အရွက်များထက်တွင် ရေးတင်လျက်ရှိ၏။

ကမ္ဘာမြေပြင်ဝယ် စိတ်စေတနာ သဒ္ဓါတရား အလွန်ထက်သန်လှသော မုအ်မင်န်တို့သည်လည်း ကုရ်အာန်ကျမ်းမြတ်ကို အလွန်ရိုသေ ခန့်ညားစွာဖြင့်၊ အလွန်စင်ကြယ်သန့်ရှင်းစွာဖြင့် အမြင့်တွင် တရိုတသေ ထားရှိကြပေသည်။ အထက်ကောင်းကင်တွင် ကုရ်အာန်ကျမ်းမြတ်ကို ကောင်းကင်တမန်များက ရေးမှတ်ထားကြသည်။

သို့ရေးမှတ်ထားကြသည့်အတိုင်း ကမ္ဘာမြေပြင်သို့ ကျရောက်လာပေသည်။ ဤကမ္ဘာမြေတွင်လည်း ကောင်းကင်တမန်များတမျှ ဖြူစင်သန့်ရှင်းသော သူတော်စင် မုအ်မင်န်များကပင် ကုရ်အာန်ကျမ်းလာ➤➤

قُتِلَ الْإِنْسَانُ مَآ أَكْفَرَهُۥ ⑰

၁၇။ မနုဿလူသားသည် ပျက်စီးပါစေ၊ (ပျက်စီးချိမ့်သတည်း)။ ၎င်းသည် အဘယ်မျှလောက် ကျေးဇူးကန်းဘိသနည်း။

مِنْ أَيِّ شَيْءٍ خَلَقَهُۥ ⑱

၁၈။ ထိုအရှင်မြတ်သည် ၎င်းအား မည်သည့်အရာဖြင့် ဖန်ဆင်းတော်မူပါသနည်း။

مِن نُّطْفَةٍ خَلَقَهُۥ فَقَدَّرَهُۥ ⑲

၁၉။ ထိုအရှင်မြတ်သည် ၎င်းအား ကလလ ရေကြည်တစက်ဖြင့် ဖန်ဆင်းတော်မူ၏။ တဖန် ထိုအရှင်မြတ်သည် ၎င်းအား နှိုင်းချိန်တိုင်းဆ ခန့်မှန်း၍ ပြုလုပ်တော်မူ၏။ [၁]

---

➤➤ အာယတ်တော်များကို အပိုအလိုမရှိ၊ တိကျမှန်ကန်စွာ ရေးမှတ်ထားကြပေသည်။ ဤသို့သော ကုရ်အာန်ကျမ်းမြတ်သည် ဂုဏ်သိက္ခာရှိပြီး၊ မြင့်မြတ်ပြီး ဖြစ်ပေသည်။

ဤအာယတ်တော်တွင် "အင်နှဟာ"ဟူသော ပုဒ်၌ပါရှိသော "ဟာ"ဟူသော နာမ်စားနှင့်စပ်လျဉ်း၍ အချို့က ယင်းနာမ်စားသည် ဤကဏ္ဍကို ရည်ညွှန်းသည်ဟူ၍လည်းကောင်း၊ အချို့က တရားဟောကြားရာတွင် နိမ့်မြင့်မခြား သာတူညီမျှ တစ်တန်းတစ်စားတည်း ဆက်ဆံရမည်ဟူသော အမိန့်တော်ကို ရည်ညွှန်းသည်ဟူ၍လည်းကောင်း၊ အချို့က ကုရ်အာန်ကျမ်းမြတ် တစ်စောင်လုံးကို ရည်ညွှန်းသည်ဟူ၍လည်းကောင်း၊ အမျိုးမျိုး ဖွင့်ဆိုကြသည်။ (နောက်ဆုံးအဆိုသည် သင့်မြတ်လှသည်)။

ဤအာယတ်တော်တွင်ပါရှိသော "စဖရဟ်"ဟူသောပုဒ်ကို အနက်ဖွင့်ရာတွင်လည်း အချို့က ယင်းပုဒ်သည် ကောင်းကင်တမန်များကို ရည်ညွှန်းသည်ဟူ၍လည်းကောင်း၊ အချို့က "ဆွဟာဗဟ်" သာဝကကြီးများအား ရည်ညွှန်းသည်ဟူ၍လည်းကောင်း၊ အချို့က "ကုရ်ရာအ်" ကုရ်အာန်ကျမ်းကို အာဂုံဆောင်ထားသော ပုဂ္ဂိုလ်များအား ရည်ညွှန်းသည်ဟူ၍လည်းကောင်း၊ အမျိုးမျိုး ဖွင့်ဆိုကြသည်။ အိဗ်နုဂျရီရ်က ယင်းအဆိုများအနက် ပထမအဆိုသည် မှန်ကန်သင့်မြတ်သည်ဟု ဆိုထားသည်။ ကြည့်-အိဗ်နုကဆီရ်။

ဤအာယတ်တော်များကို ထောက်ရှုခြင်းအားဖြင့် ကုရ်အာန်ကျမ်းမြတ်ကို စင်ကြယ်သန့်ရှင်းမြင့်မြတ်သောနေရာတွင် ထားရှိရမည့်အကြောင်း၊ ရိုသေလေးမြတ်စွာ ကိုင်တွယ်ရမည့်အကြောင်း၊ ထို့ပြင်တဝ ကုရ်အာန်ကျမ်းမြတ်ကို ရွတ်ဖတ်သရဇ္ဈာယ်သောသူများသည် ကုရ်အာန်ကျမ်းလာ အာယတ်တော်များနှင့်အညီ အပြောအဆို၊ အနေအထိုင်တွင် ရိုးသားဖြောင့်မတ်၊ မှန်ကန်တည်ကြည်၍ ကုရ်အာန်၏ သရုပ်သကန်များ ဖြစ်ကြရမည့်အကြောင်း၊ ကောင်းစွာ သိရှိနိုင်ပေသည်။

(၁) <u>လူသား၏ ကျေးဇူးကန်းမှု။</u>

လူသားသည် ကုရ်အာန် ကျမ်းမြတ်ကဲ့သို့ ကြီးကဲမြင့်မြတ်လှသော ကျေးဇူးကိုပင် မလေးစားပေ။ အလ္လာဟ်အရှင်မြတ်နှင့် ပတ်သက်၍လည်း တစ်စုံတစ်ရာ တာဝန်ကိုမျှ မသိပေ။ ယင်းသို့ ကျေးဇူးမသိတတ်သော ကျေးဇူးကန်းလှသော လူသားသည် ပျက်စီးပါစေသတည်း။ ပျက်စီးချိမ့်သတည်း။ ➤➤

ثُمَّ السَّبِيلَ يَسَّرَهُ ۝٢٠

၂၀။ ထို့နောက် ထိုအရှင်မြတ်သည် ၎င်း၏အဖို့ လမ်းကို လွယ်ကူစေတော်မူ၏။

ثُمَّ أَمَاتَهُ فَأَقْبَرَهُ ۝٢١

၂၁။ ထို့နောက် ထိုအရှင်မြတ်သည် ၎င်းအား သေဆုံးစေတော်မူ၏။ တဖန် ထိုအရှင်မြတ်သည် ၎င်းအား သင်္ချိုင်းတွင်းသို့ မြှုပ်နှံစေတော်မူ၏။

ثُمَّ إِذَا شَاءَ أَنشَرَهُ ۝٢٢

၂၂။ ထို့နောက်တဖန် ထိုအရှင်မြတ်သည် အလိုရှိတော်မူသောအခါ ၎င်းအား ရှင်ပြန်ထစေတော်မူမည်။

كَلَّا لَمَّا يَقْضِ مَا أَمَرَهُ ۝٢٣

၂၃။ ထိုလူသားသည် ၎င်းအား ထိုအရှင်မြတ်က အမိန့်ပေးတော်မူသည်များကို ကျေပွန်အောင် ဆောင်ရွက်ခဲ့ခြင်း အလျှင်း မရှိချေ။ [၁]

فَلْيَنظُرِ الْإِنسَانُ إِلَىٰ طَعَامِهِ ۝٢٤

၂၄။ ပြီးနောက် လူသားသည် မိမိ အစားအစာကို (ပြန်လည်)ကြည့်ရှု ဆင်ခြင်အပ်ပေသည်။

---

➤➤ လူသားသည် မိမိ၏ မူလဘဝဖြစ်စဉ်ကို စဉ်းစားဆင်ခြင်ရာသည်။ လူသားသည် မည်သည့်အရာမှ ဖြစ်ပေါ်လာသနည်း။ အမှန်စင်စစ် အလ္လာဟ်အရှင်မြတ်သည် လူသားအား ကလလရေကြည် တစ်စက်ဖြင့် ဖန်ဆင်းထားတော်မူခြင်း ဖြစ်သည်။ ယင်းရေကြည်တစ်စက်တွင် အသိဉာဏ်၊ အမြော်အမြင်၊ အလှအပ၊ ဘစ်စုံတစ်ရာမျှ မရှိခဲ့ပေ။ ဤသည်တို့သည် အလ္လာဟ်အရှင်မြတ်၏ကျေးဇူးတော်ပင်။

အလ္လာဟ်အရှင်မြတ်သည် လူသားအား ကလလ ရေကြည်တစ်စက်မှ ဖန်ဆင်းထားတော်မူ၏။ လူသား၏ ကိုယ်ခန္ဓာ အစိတ်အပိုင်းများကိုလည်း စနစ်တကျ နေထားကျန၊ ထည်ဝါခံ့ညားလှပစွာ စီမံထားတော်မူ၏။ လူသား၌ အဆင်မပြေမှုဟူ၍ တစ်စုံတစ်ရာမျှမရှိ၊ အစစအရာရာ အဆင်ပြေလှ၏။ ထို့ပြင်တဝ လူသားအား အီမာန်နှင့်ကုဖ်ရ်၊ ယုံကြည်မှုနှင့်မယုံကြည်မှု၊ အကောင်းနှင့်အဆိုး၊ အမှန်နှင့်အမှား စသည်တို့ကို ဝေဖန်ပိုင်းခြား သိမြင်နိုင်ရန် အလို့ငှာ အသိဉာဏ်ကိုလည်း ပေးထားတော်မူ၏။

(၁) လူသားသည် မိမိအား မိမိ၏အရှင်က မိန့်ကြားထားတော်မူသည်များကို ယခုထက်တိုင် လိုက်နာ မဆောင်ရွက်သေးပေ။

အိဗ်နုကဆီရ်က ဤအာယတ်တော် ( كَلَّا لَمَّا يَقْضِ مَا أَمَرَهُ ) ကို ( ثُمَّ إِذَا شَاءَ أَنشَرَهُ ) ဟူသော အာယတ်တော်နှင့် ဆက်စပ်ပြီး "ထိုအရှင်မြတ်သည် မိမိအလိုတော်ရှိတော်မူသောအခါ ထိုလူသားအား ရှင်ပြန်ထစေတော်မူမည်။ ယခုမူ ဤသို့ ပြုလုပ်တော်မမူသေးပေ။ အဘယ်ကြောင့်ဆိုသော် ထိုအရှင်မြတ်သည် ဤပစ္စက္ခဘဝ၏ စည်ပင်ဝပြောမှုနှင့် စပ်လျဉ်း၍ သတ်မှတ်ထားတော်မူသော 'တတ်က်ဒီရ်'ဆိုင်ရာ လျာထားချက်ကို ပြီးစီးအောင် ပြုလုပ်တော်မမူရသေးပေ"ဟု အနက်ဖွင့်ထားပေသည်။

أَنَّا صَبَبْنَا الْمَآءَ صَبًّا ﴿٢٥﴾

၂၅။ ကေန်မလွဲ ငါအရှင်မြတ်သည် (မိုး)ရေကို (အံ့ဘွယ်သရဲ) ရွာသွန်းစေတော်မူ၏။

ثُمَّ شَقَقْنَا الْأَرْضَ شَقًّا ﴿٢٦﴾

၂၆။ ထိုနောက် ငါအရှင်မြတ်သည် ပထဝီမြေကို (အံ့ဘွယ်သရဲ) ခွဲတော်မူ၏။

فَأَنۢبَتْنَا فِيهَا حَبًّا ﴿٢٧﴾

၂၇။ တဖန် ငါအရှင်မြတ်သည် ယင်းပထဝီမြေ၌ ကောက်ပဲသီးနှံကို ပေါက်ရောက်စေတော်မူ၏။

وَّعِنَبًا وَّقَضْبًا ﴿٢٨﴾

၂၈။ စပျစ်ပင်ကိုလည်းကောင်း၊ စိမ်းစိုသော ဟင်းသီးဟင်းရွက်ကိုလည်းကောင်း။

وَّزَيْتُونًا وَّنَخْلًا ﴿٢٩﴾

၂၉။ သံလွင်ပင်ကိုလည်းကောင်း၊ စွန်ပလွံပင်ကိုလည်းကောင်း။

وَّحَدَآئِقَ غُلْبًا ﴿٣٠﴾

၃၀။ (သစ်ပင်ပန်းပင်များ)ထူထပ်သော ဥယျာဉ်များကိုလည်းကောင်း။

وَّفَاكِهَةً وَّأَبًّا ﴿٣١﴾

၃၁။ သစ်သီးဝလံများကိုလည်းကောင်း၊ ကျွဲ၊နွား တိရစ္ဆာန်အစာကိုလည်းကောင်း၊ (ပေါက်ရောက်စေတော်မူ၏)။

مَّتَاعًا لَّكُمْ وَلِأَنْعَامِكُمْ ﴿٣٢﴾

၃၂။ အသင်တို့၏အကျိုးငှာလည်းကောင်း၊ အသင်တို့၏ကုလားအုတ်၊ ကျွဲ၊ နွား တိရစ္ဆာန်များ၏ အကျိုးငှာလည်းကောင်း၊ [၁]

(၁) အထက်တွင် လူသားအား အလ္လာဟ်အရှင်မြတ် စတင် ဖန်ဆင်းထားတော်မူသည့်အကြောင်း၊ သေစေတော်မူသည့်အကြောင်း၊ ထို့နောက် ရှင်ပြန်ထစေတော်မူမည့်အကြောင်းများ ပါရှိ၏။ ယခု ဤအာယတ်တော်များတွင် လူ့သက်တမ်း၌ လူသားများ ကောင်းစွာရပ်တည်နိုင်ရန်အလို့ငှာ ထိုအရှင်မြတ်သည် လူသားအဖို့ စားသောက်ဖွယ်ရာများကို လိုလေသေးမရှိ အသင့်စီမံထားတော် မူသည့်အကြောင်းများကို မိန့်ဆိုထားတော်မူပေသည်။

လူသားသည် နေ့စဉ်နှင့်အမျှ မိမိမှီဝဲစားသုံးနေသော အစာအာဟာရများ မည်သို့မည်ပုံ ဖြစ်ပေါ်လာသည်များကို စဉ်းစားဆင်ခြင် ရှုမြင်ရာသည်။ အလ္လာဟ်အရှင်မြတ်သည် မိုးရေများကို အံ့ဖွယ်သရဲ ရွာသွန်းချပေးတော်မူ၏။ မြေတွင်းရှိ မျိုးစေ့များကို ထွက်ပေါ်လာနိုင်ရန် မြေကို အက်စေတော်မူ၏။ ကောက်ပဲသီးနှံ ဟင်းသီးဟင်းရွက်များကိုလည်း ပေါက်ရောက်စေတော်မူ၏။ စပျစ်၊ သံလွင်၊ စွန်ပလွံ စသည့် ➢➢

| | |
|---|---|
| ၃၃။ တဖန် နားပင်းစေသောအသံသည် (ထွက်ပေါ်၍) လာသောအခါ။[၁] | فَإِذَا جَآءَتِ ٱلصَّآخَّةُ ٣٣ |
| ၃၄။ အကြင်နေ့တွင် လူသည်ထွက်ပြေး (တိမ်းရှောင်)အံ့၊ မိမိညီအစ်ကို၏ထံမှလည်းကောင်း။ | يَوْمَ يَفِرُّ ٱلْمَرْءُ مِنْ أَخِيهِ ٣٤ |
| ၃၅။ မိမိအမိထံမှလည်းကောင်း၊ မိမိအဘထံမှလည်းကောင်း။ | وَأُمِّهِۦ وَأَبِيهِ ٣٥ |
| ၃၆။ မိမိဇနီး ကြင်ယာ၏ထံမှလည်းကောင်း၊ မိမိသားသမီးထံမှလည်းကောင်း။ | وَصَٰحِبَتِهِۦ وَبَنِيهِ ٣٦ |
| ၃၇။ ထိုနေ့တွင်ကား လူတိုင်းလူတိုင်း၌ (အခြားမည်သည့်တစုံတရာကိုမျှ) ဂရုမစိုက်ဘဲ လုံးပန်း၍နေစေသော အရေးကိစ္စတခုစီ ရှိနေမည်ဖြစ်၏။ | لِكُلِّ ٱمْرِئٍ مِّنْهُمْ يَوْمَئِذٍ شَأْنٌ يُغْنِيهِ ٣٧ |
| ၃၈။ ထိုနေ့တွင် မြောက်မြားစွာသောမျက်နှာတို့မှာ လင်းဝင်းတောက်ပလျက် ရှိကြပေမည်။ | وُجُوهٌ يَوْمَئِذٍ مُّسْفِرَةٌ ٣٨ |
| ၃၉။ ရယ်မောရွှင်ပြလျက် (ရှိကြပေမည်)။ | ضَاحِكَةٌ مُّسْتَبْشِرَةٌ ٣٩ |
| ၄၀။ ထိုမှတပါး မြောက်မြားစွာသော မျက်နှာတို့အပေါ်၌မူကား မြူမှုန်များသည် ရှိနေပေမည်။ | وَوُجُوهٌ يَوْمَئِذٍ عَلَيْهَا غَبَرَةٌ ٤٠ |
| ၄၁။ ထိုမျက်နှာများအပေါ်၌ အမှောင်သည် ဖုံးလွှမ်းလျက် ရှိပေမည်။ | تَرْهَقُهَا قَتَرَةٌ ٤١ |

>> သစ်သီးဝလံများကိုလည်း ပေါက်ရောက်စေတော်မူ၏။ စိမ်းစိမ်းစို နုပျိုစည်ပင်သာယာလျက်ရှိသော ဥယျာဉ်များကိုလည်း စိုက်ပျိုးထားတော်မူ၏။ အခြေလေးချောင်း တိရိစ္ဆာန်များအဖို့လည်း စားနပ်ရိက္ခာများကို အသင့်စီမံထားတော်မူ၏။ဤသည်တို့သည် လူသားတို့နှင့် လူသားတို့ စေခိုင်းနေသော တိရိစ္ဆာန်တို့၏ စားနပ်ရိက္ခာဖြစ်၏။ဤသည်တို့ကို စဉ်းစားဆင်ခြင် ရှုမြင်ပါက လူသားသည် မိမိ၏ ကျေးဇူးရှင်အား ကျေးဇူးကန်းမည် မဟုတ်သည်သာမက ကျေးဇူးတော်သိလာပေမည်။ အမိန့်တော်ကို နာခံလာပေမည်။

(၁) နားများ ပင်းသွားစေမည့် အရာဟူသည် ကိယာမတ်နေ့တွင် မှုတ်မည့် တံပိုးသံကို ဆိုလိုသည်။ ထိုအခါ ယခုကျေးဇူးကန်းနေသူများသည် ကျေးဇူးကန်းမှု၏အကျိုးကို ကောင်းစွာ သိသွားကြပေမည်။

أُولَٰئِكَ هُمُ الْكَفَرَةُ الْفَجَرَةُ ﴿٤٢﴾

၄၂။ ထိုသူတို့သည်သာလျှင် ကာဖိရ် သွေဖည်ငြင်းပယ်သူများ၊ ဆိုးသွမ်းသူများဖြစ်ကြကုန်သတည်း။ ①



## ခေါက်လိပ်ခြင်းကဏ္ဍ

ဤကဏ္ဍသည် စူရဟ် "တတ်က်ဝီရ်" ခေါက်လိပ်ခြင်း အကြောင်းပါဝင်သော ကဏ္ဍမည်၏။ ဤကဏ္ဍသည် မက္ကာမြို့တော်၌ ကျရောက်ခဲ့၏။ ဤကဏ္ဍတွင် အာယတ်တော် (၂၉) ပါး ပါရှိ၏။

بِسْمِ اللَّهِ الرَّحْمَٰنِ الرَّحِيمِ

မပြတ်မစဲ သနားကြင်နာ ညှာတာတော်မူသော မဟာကရုဏာတော်ရှင် ဖြစ်တော်မူသော အလ္လာဟ်အရှင်မြတ်၏နာမံတော်ဖြင့် အစပြုပါ၏။

إِذَا الشَّمْسُ كُوِّرَتْ ﴿١﴾

၁။ နေသည် ခေါက်လိပ်ခြင်းကို ခံရသောအခါ၊ (အလင်းရောင်မှဲ့သွားသောအခါ)၊

وَإِذَا النُّجُومُ انْكَدَرَتْ ﴿٢﴾

၂။ ထို့ပြင် ကြယ်တာရာများသည် ကြွေကျကြသောအခါ၊

وَإِذَا الْجِبَالُ سُيِّرَتْ ﴿٣﴾

၃။ ၎င်းပြင် တောင်များသည် ရွေ့လျားခြင်းကို ခံကြရသောအခါ၊

---

① **ကိယာမတ်နေ့တွင် မုအ်မင်န်နှင့် ကာဖိရ်တို့၏ဖြစ်အင်။**

ကိယာမတ်နေ့တွင် လူသားများသည် မိမိတို့၏ညီအစ်ကို မိဘ ဇနီးသားသမီးများကိုပင် စွန့်ခွာထွက်ပြေးလျက် ရှိကြပေမည်။ တစ်ဦးကိုတစ်ဦး သနားကြင်နာ ထောက်ထားနိုင်ကြမည်မဟုတ်ပေ။ အသီးသီးကိုယ့်အရေးနှင့်ကိုယ် လုံးပန်းလျက် ရှိကြပေမည်။ သူတပါးအား လှည့်ကြည့်နိုင်ကြမည်မဟုတ်ပေ။ ဤကားကာဖိရ်တို့၏ အဖြစ်တည်း။

ကိယာမတ်နေ့တွင် မြောက်မြားစွာသော မျက်နှာများသည် အီမာန်ကြောင့် တောက်ပလျက်ရှိကြပေမည်။ ဝမ်းသာမှုကြောင့် ရွှင်ပြလျက်ရှိကြပေသည်။ ဤသူများကား မုအ်မင်န် သူတော်စင်များတည်း။ ကိယာမတ်နေ့တွင် မြောက်မြားစွာသော မျက်နှာများသည် ကုဖ်ရ်ကြောင့် ပုပ်လျက်ရှိကြပေမည်။ ယုတ်မာမှုကြောင့် မည်းလျက်ရှိကြပေမည်။ ဤသူတို့ကား ကာဖိရ် သူယုတ်မာများတည်း။

၄။ ထိုမှတပါး ကိုယ်ဝန်ဆောင် ဆယ်လစေ့သော ကုလားအုတ်မများသည် (ထိန်းကျောင်းသူမရှိဘဲ) စွန့်လွှတ်ထားခြင်းကို ခံကြရသောအခါ၊

وَإِذَا الْعِشَارُ عُطِّلَتْ ۝٤

၅။ ထို့ပြင် တောတိရစ္ဆာန်များသည် စုရုံးခြင်းကို ခံကြရသောအခါ၊

وَإِذَا الْوُحُوشُ حُشِرَتْ ۝٥

၆။ ထို့ပြင် ပင်လယ် သမုဒ္ဒရာများသည် ခြောက်ခန်း ဆူပွက်စေခြင်းကို ခံကြရသောအခါ၊

وَإِذَا الْبِحَارُ سُجِّرَتْ ۝٦

၇။ ၎င်းပြင် အသက်ဇီဝိန်များ (လူများသည်) တွဲဖက်စုပေါင်းစေခြင်းကို ခံကြရသောအခါ၊

وَإِذَا النُّفُوسُ زُوِّجَتْ ۝٧

၈။ ၎င်းပြင် အရှင်လတ်လတ် မြှုပ်နှံခြင်းကို ခံခဲ့ရသော သမီးမိန်းကလေးသည် မေးမြန်းခြင်းကို ခံရသောအခါ၊

وَإِذَا الْمَوْءُودَةُ سُئِلَتْ ۝٨

၉။ ၎င်းပြင် မည်သည့်အပြစ်ကြောင့် သတ်ဖြတ်ခြင်းကို ခံခဲ့ရသနည်း(ဟု)၊

بِأَيِّ ذَنبٍ قُتِلَتْ ۝٩

၁၀။ ၎င်းပြင် (မှတ်တမ်း)စာရွက်များသည် ဖြန့်ထားခြင်းကို ခံကြရသောအခါ၊

وَإِذَا الصُّحُفُ نُشِرَتْ ۝١٠

၁၁။ ထို့ပြင် မိုးကောင်းကင်သည် အရေခွာခြင်းကို ခံရသောအခါ (ပွင့်စေခြင်းကိုခံရသောအခါ)၊

وَإِذَا السَّمَاءُ كُشِطَتْ ۝١١

၁၂။ ထို့ပြင် "ဂျဟန္နမ်" ငရဲသည် မီးမွှေးခြင်းကို ခံရသောအခါ။

وَإِذَا الْجَحِيمُ سُعِّرَتْ ۝١٢

၁၃။ ထိုမှတပါး "ဂျန္နတ်" သုခဘုံသည် အနီးသို့ ယူဆောင်လာခြင်းကို ခံရသောအခါ။

وَإِذَا الْجَنَّةُ أُزْلِفَتْ ۝١٣

عَلِمَتْ نَفْسٌ مَّآ أَحْضَرَتْ ﴿١٤﴾

၁၄။ လူအသီးသီးတို့သည် မိမိတို့ ယူဆောင်ခဲ့ကြသည့် (ကောင်းမှု၊ မကောင်းမှု)တို့ကို သိသွားကြအံ့သတည်း။ [၁]

فَلَآ أُقْسِمُ بِالْخُنَّسِ ﴿١٥﴾

၁၅။ သို့ဖြစ်ပေရာ ငါ အရှင်မြတ်သည် အကြင်နောက်ဆုတ်တတ်သော နက္ခတ်တို့ကို သက်သေ ထူတော်မူ၏။

الْجَوَارِ الْكُنَّسِ ﴿١٦﴾

၁၆။ ထိုနက္ခတ်များသည် ဖြောင့်မတ်စွာ သွားတတ်သော၊ ကွယ်ပျောက်၍ သွားတတ်သော နက္ခတ်များဖြစ်ကြကုန်၏။ [၂]

---

(၁) **ကိယာမတ်ဖြစ်သောအခါဝယ်။**

ကိယာမတ်နေ့ ပထမအကြိမ် တံပိုးမှုတ်သောအခါ နေသည် အလင်းရောင်မဲ့ ဖြစ်သွားပေမည်။ ကြယ်တာရာများ ကြွေကျပေမည်။ တောင်များ လွင့်စဥ် ရွေ့လျားသွားပေမည်။ ကိုယ်ဝန်ဆောင် ကုလားအုတ်မများသည် အထိန်းအကျောင်းမဲ့ ဖြစ်နေကြပေမည်။ တောတိရစ္ဆာန်များသည် ကြောက်လန့်ပြီး စုရုံးနေကြမည်။ သမုဒ္ဒရာပင်လယ်များသည် လောင်ကျွမ်းဆူပွက်လျက် ရှိပေမည်။

ဒုတိယအကြိမ် တံပိုးမှုတ်သောအခါ လူသားတို့သည် မွတ်စ်လင်မ်တခြား၊ ကာဖိရ်တစ်ကန့်ဖြစ်ပြီး အသီးသီး ကိုယ့်အုပ်စုနှင့်ကိုယ် စုပေါင်းသွားကြပေမည်။ မိမိတို့၏ သမီးမိန်းကလေးများအား အရှင်လတ်လတ်သတ်ဖြတ်မြှုပ်နှံခဲ့ရသူများ၏ ပြစ်မှုထင်ရှားစေရန်အတွက်၊ ထိုသမီးမိန်းကလေးများသည် အဘယ်အပြစ်ကြောင့် သတ်ဖြတ်ခြင်း ခံခဲ့ကြရသနည်းဟု မေးမြန်းခြင်း ခံကြရပေမည်။

လူတိုင်းလူတိုင်း၏ မှတ်တမ်းများသည် ပွင့်သွားပေမည်။ ကောင်းကင်များလည်း ပွင့်သွားပေမည်။ ကောင်းကင်ထက် အရာများကို တွေ့မြင်လာပေမည်။ ငရဲကို မီးညှိပေးလိုက်ပေမည်။ ဂျန္နတ် သုခဘုံသည် မွတ္တကီသူတော်စင်များ အနီးသို့ရောက်ရှိလာပေမည်။ ထိုအခါ လူသားတို့သည် မိမိတို့ ဆည်းပူး ယူဆောင်လာခဲ့ကြသော ကောင်းမှု၊ မကောင်းမှု အကြောင်းနှစ်ခုကို မျက်ဝါးထင်ထင် တွေ့မြင်သိရှိကြပေမည်။ (ထာနဝီ)

(၂) အချို့ကြယ်ကြီးများသည် ရှေ့သို့ မတ်မတ်သွားရင်း နောက်သို့ ဆုတ်တတ်ကြပေသည်။ ထို့နောက်နောက်သို့သာ ဆုတ်လျက်ရှိကြပေသည်။ သို့ နောက်သို့ ဆုတ်ရင်း မိမိတို့၏ ထွက်ပေါ်ရာဌာနများတွင် ပျောက်ကွယ်သွားကြပေသည်။ ဤသည် "ဖျူဠဇာ" ကျင့်ခြင်းပင်၊ (ဖျူဠ=ကျား + ဇာ= အကျင့်) ကျားတို့သည် သားကောင်ကိုလိုက်ကာ ရှေ့ခုန်၊ နောက်ဆုတ်ပြုသကဲ့သို့ ဂြိုဟ်တို့ ရှေ့သွား၊ နောက်ဆုတ်ပြုခြင်းပင်။ ဤသည့်အဖြစ်သည် ကြယ်ကြီးငါးလုံးတွင် ဖြစ်တတ်ပေသည်။ ယင်းကြယ်ကြီးငါးလုံးကို "စမ်စဟ်မုတဟိုင်ယိရဟ်"ဟု ခေါ်သည်။ ၎င်းတို့မှာ ဇုဟလ်၊ မုရ်ှတရီ၊ အတ္တာရိဒ်၊ မိရ်ရီခ်၊ ဇုဟ်ရဟ်တည်း။ အလ္လာဟ်အရှင်မြတ်သည် အဆိုပါကြယ်ကြီးများကို သက်သေထူ မိန့်ဆိုထားတော်မူသည်။

وَالَّيْلِ إِذَا عَسْعَسَ ﴿١٧﴾

၁၇။ ၎င်းပြင် (ငါအရှင်မြတ်သည်) ညဉ့်ကို (သက်သေထူတော်မူ၏)။ အကြင်အခါဝယ် ထိုညဉ့်သည် ရောက်ရှိလာ၏။ (ကုန်လွန်သွား၏)။

وَالصُّبْحِ إِذَا تَنَفَّسَ ﴿١٨﴾

၁၈။ ၎င်းပြင် (ငါအရှင်မြတ်သည်)နံနက်ကို (သက်သေထူတော်မူ၏)။ အကြင်အခါဝယ် ယင်း နံနက်သည် လင်း၍လာလေ၏။

إِنَّهُ لَقَوْلُ رَسُولٍ كَرِيمٍ ﴿١٩﴾

၁၉။ ဧကန်မလွဲ ဤ(ကုရ်အာန်ကျမ်းတော်မြတ်)သည် မြင့်မြတ်သော စေတမန်တပါး(ယူဆောင်လာသော) အာယတ်တော်ဖြစ်၏။

ذِي قُوَّةٍ عِندَ ذِي الْعَرْشِ مَكِينٍ ﴿٢٠﴾

၂၀။ (ထိုစေတမန်သည်) ခွန်အား ကြီးမားသူ၊ 'အရ်ရှ်' ပလ္လင်တော်ကို စိုးပိုင်တော်မူသောအရှင်မြတ်၏အပါးတော်၌ ဂုဏ်အသရေရှိသူဖြစ်ပေသည်။

مُطَاعٍ ثَمَّ أَمِينٍ ﴿٢١﴾

၂၁။ (ထို့ပြင်) ထို(မိုးကောင်းကင်များ)၌ သြဇာညောင်းသူ၊ ယုံကြည်စိတ်ချရသူ(လည်းဖြစ်ပေသည်၊)[၁]

وَمَا صَاحِبُكُم بِمَجْنُونٍ ﴿٢٢﴾

၂၂။ ၎င်းပြင် (ဤ)အသင်တို့၏ အဖော်သည် လည်း ရူးသွပ်သောသူ မဟုတ်ပေ။

وَلَقَدْ رَآهُ بِالْأُفُقِ الْمُبِينِ ﴿٢٣﴾

၂၃။ ၎င်းပြင် မလွဲဧကန် ထိုအသင်တို့၏ အဖော်သည် ရှင်းလင်းသော 'အုဖွတ်က်' မိုးကုပ်စက်ဝိုင်း၌ ၎င်းစေတမန်အား တွေ့မြင်ခဲ့ဖူးပေသည်။

---

(၁) **ကုရ်အာန်ကို ယူဆောင်လာသော ကောင်းကင်တမန်။**

ကုရ်အာန်ကျမ်းမြတ်ကို ယူဆောင်လာသော ကောင်းကင်တမန်သည် ကောင်းကင်တမန် ဂျိဗ်ရီလ် ပင်တည်း။ ကောင်းကင်တမန် ဂျိဗ်ရီလ်သည် အလ္လာဟ်အရှင်မြတ် ထံတော်၌ မြင့်မြတ်သည်။ ဂုဏ်အသရေ ရှိသည်။ အားအင်လည်း ကြီးမားသည်။ ကောင်းကင်ထက်ဝယ် သြဇာလည်း ညောင်းသည်။ သစ္စာသမာဓိလည်း ရှိပေသည်။

وَمَا هُوَ عَلَى الْغَيْبِ بِضَنِينٍ ﴿٢٤﴾

၂၄။ ၎င်းပြင် ထိုအသင်တို့၏အဖော်ကား အကွယ်၌ ရှိသောအရာများ(အနက်၊ အလ္လာဟ်အရှင်မြတ် အသိပေးတော်မူသောအရာများ)နှင့်စပ်လျဉ်း၍ စေးနဲသူလည်း မဟုတ်ပေ။ [၁]

وَمَا هُوَ بِقَوْلِ شَيْطَانٍ رَّجِيمٍ ﴿٢٥﴾

၂၅။ ထို့ပြင် ယင်း(ကုရ်အာန်ကျမ်းတော်မြတ်) သည် မည်သည့် နှင်ထုတ်ခြင်းခံရသော 'ရှိုင်တွာန်' မိစ္ဆာကောင်၏ ပြောဆိုချက်လည်း အလျှင်းမဟုတ်ပေ။

فَأَيْنَ تَذْهَبُونَ ﴿٢٦﴾

၂၆။ သို့ပါလျက် အသင်တို့သည် အဘယ်သို့ သွားနေကြသနည်း။

إِنْ هُوَ إِلَّا ذِكْرٌ لِّلْعَالَمِينَ ﴿٢٧﴾

၂၇။ ထို(ကုရ်အာန်ကျမ်းတော်မြတ်)သည် စကြာဝဠာ ခပ်သိမ်းတို့အဖို့ ဆုံးမသြဝါဒသာလျှင် ဖြစ်ချေသည်။

لِمَن شَاءَ مِنكُمْ أَن يَسْتَقِيمَ ﴿٢٨﴾

၂၈။ (အထူးသဖြင့်) အသင်တို့အနက် ဖြောင့်မတ်စွာ သွားလိုသူ၏အဖို့။ [၂]

---

(၁) **ကုရ်အာန်ပို့ချခြင်းခံရသော တမန်တော်။**

ကုရ်အာန်ကျမ်းမြတ် ပို့ချခြင်းခံရသော တမန်တော်ကား တမန်တော်မြတ် မုဟမ္မဒ် (ဆွာလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)တည်း။ တမန်တော်မြတ်သည် ကာဖိရ်များ မဟုတ်မလျား စွပ်စွဲပြောဆိုကြသကဲ့သို့ သူရူးမဟုတ်။

တမန်တော်မြတ်၌ ပြည့်ဝသော ဉာဏ်၊ မှန်ကန်သော အမြင်၊ ထက်မြက်သော အဆုံးအဖြတ်၊ ပြေပြစ်သော အပြောအဆို၊ ပိရိသော အနေအထိုင် ရှိပေသည်။ တမန်တော်မြတ်သည် ကောင်းကင်တမန် ဂျီဗ်ရီလ်အား ကောင်းစွာသိသည်။

တမန်တော်မြတ်သည် ကောင်းကင်တမန် ဂျီဗ်ရီလ်အား မူလရုပ်ဆင်းသဏ္ဌာန်၌ မိုးကုပ်စက်ဝိုင်းတွင် အသေအချာ တွေ့မြင်ခဲ့ဖူးသည်။ ဤအကြောင်း ကုရ်အာန် (၅၃း၆-၇) တွင် ပါရှိခဲ့ချေပြီ။ တမန်တော်မြတ်သည် အလ္လာဟ်အရှင်မြတ်ထံတော်မှ အသနားတော်မြတ်ခံရသော တရားတော်များကို ဟောကြားတော်မူရာတွင် အလျင်းစေးနဲတော်မူသည်မဟုတ်ပေ။

(၂) **ကုရ်အာန်ကျမ်းမြတ်။**

ကုရ်အာန်ကျမ်းမြတ်သည် အနှင်ခံ ရှိုင်တွာန်၏ စကားမဟုတ်။ အထက်တွင် ပါရှိခဲ့သည့်အတိုင်း ကောင်းကင်တမန် ယူဆောင်လာသော တမန်တော်မြတ် အသနားတော်ခံရသော အလ္လာဟ်အရှင်မြတ်၏ အာယတ်တော်ဖြစ်ချေသည်။ ကုရ်အာန်ကျမ်းမြတ်သည် ကမ္ဘာသူ ကမ္ဘာသားများအဖို့၊ အထူးသဖြင့် လူသားတို့အနက် ရိုးသား၊ တည်ကြည်၊ ဖြောင့်မတ်စွာ နေထိုင်လိုသူများအဖို့ အဆုံးအမသြဝါဒတော် တစ်ပါးဖြစ်ပေသည်။

وَمَا تَشَآءُونَ اِلَّآ اَنۡ يَّشَآءَ اللّٰهُ رَبُّ الۡعٰلَمِيۡنَ ﴿٢٩﴾

၂၉။ စင်စစ်သော်ကား စကြာဝဠာ ခပ်သိမ်းတို့ကို ဖန်ဆင်းမွေးမြူတော်မူသော အလ္လာဟ်အရှင်မြတ် အလိုရှိတော်မူမှသာလျှင် အသင်တို့သည် အလိုရှိနိုင်ကြပေမည်တကား။ ၁

سُوۡرَةُ الۡاِنۡفِطَارِ

## စုတ်ပြတ်ခြင်းကဏ္ဍ

ဤကဏ္ဍသည် "အင်န်ဖိတွာရ်" စုတ်ပြတ်ခြင်းအကြောင်း ပါဝင်သော ကဏ္ဍမည်၏။ မက္ကာမြို့တော်၌ ကျရောက်ခဲ့၏။ ဤကဏ္ဍတွင် အာယတ်တော် (၁၉)ပါး ပါရှိ၏။

بِسۡمِ اللّٰهِ الرَّحۡمٰنِ الرَّحِيۡمِ

မပြတ်မစဲ သနားကြင်နာတော်မူသော၊
အနန္တကရုဏာတော်ရှင် ဖြစ်တော်မူသော
အလ္လာဟ်အရှင်မြတ်၏နာမံတော်ဖြင့် အစပြုပါ၏။

اِذَا السَّمَآءُ انۡفَطَرَتۡ ﴿١﴾

၁။ မိုးကောင်းကင်သည် အက်ကွဲသောအခါ။

وَاِذَا الۡكَوَاكِبُ انۡتَثَرَتۡ ﴿٢﴾

၂။ ၎င်းပြင် ကြယ်တာရာများသည် ကြွေကျကြသောအခါ။

وَاِذَا الۡبِحَارُ فُجِّرَتۡ ﴿٣﴾

၃။ ထို့ပြင် ပင်လယ်သမုဒ္ဒရာများသည် ဆူပွက်စီးထွက်(စေခြင်းကို ခံကြရ)သောအခါ။

---

(၁) အလိုတော်။

အချို့သူများသည် ကုရ်အာန်ကျမ်းမြတ်ကို ရွတ်ဖတ်သရဇ္ဈာယ်ကြပေသည်။ သို့သော် တရားမရကြပေ။ ဤသည်ကိုကြည့်ပြီး ကုရ်အာန်ကျမ်းမြတ်နှင့်စပ်လျဉ်း၍ အထင်မလွဲမှားရာ။ အဘယ်ကြောင့်ဆိုသော် အလ္လာဟ်အရှင်မြတ် အလိုတော်မရှိက လူသားတို့ အလိုမရှိနိုင်ကြပေ။ အလ္လာဟ်အရှင်မြတ် အလိုတော်ရှိမှသာလျှင် လူသားတို့သည် အလိုရှိနိုင်ကြပေသည်။

ဆိုလိုသည်ကား ကုရ်အာန်ကျမ်းမြတ်သည် ကမ္ဘာသူ ကမ္ဘာသားအားလုံးတို့အဖို့ အဆုံးအမဖြစ်သည်ကားမှန်၏။ သို့ရာတွင် ကုရ်အာန်၏ တရားထိရောက်မှု၊ အကျိုးသက်ရောက်မှုသည် အလ္လာဟ်အရှင်မြတ်၏ အလိုတော်အပေါ်၌သာ တည်ရှိနေပေသည်။ အလိုတော်ရှိတော်မူသော သူများသည် ကုရ်အာန်၏ အနှစ်သာရကို ခံစားခွင့်ရရှိကြပေသည်။ အကြောင်းတစ်ခုခုကြောင့် (ဝါ) လက်ခံယူရန် အရည်အချင်း မရှိသည့်အတွက် အလိုတော်မရှိသော အချို့သူများမှာမူကား ကုရ်အာန်ကျမ်းမြတ်၏ အနှစ်သာရကို ခံစားခွင့်မရရှိကြပေ။

وَإِذَا الْقُبُورُ بُعْثِرَتْ ۝٤

၄။ ထိုမှတပါး သင်္ချိုင်းများသည် အထက်အောက် မှောက်လှန် ဖရိုဖရဲဖြစ်စေခြင်းကို ခံကြရသောအခါ။

عَلِمَتْ نَفْسٌ مَّا قَدَّمَتْ وَأَخَّرَتْ ۝٥

၅။ ဇီဝိန် အသီးသီးတို့သည် မိမိတို့ ကြိုတင်ပို့နှင့်ခဲ့ကြသည်များကိုလည်းကောင်း၊ မိမိတို့သည် နောက်တွင် ချန်ခဲ့ကြသည်များကိုလည်းကောင်း၊ သိသွားခဲ့ကြပေမည်။

يَا أَيُّهَا الْإِنسَانُ مَا غَرَّكَ بِرَبِّكَ الْكَرِيمِ ۝٦

၆။ အို-လူသား၊ မိမိအား ဖန်ဆင်းမွေးမြူတော်မူသောကျေးဇူးတော်ရှင်နှင့် ပတ်သက်၍ မည်သည့်အရာသည် အသင့်အား လှည့်ဖြားခဲ့သနည်း။

الَّذِي خَلَقَكَ فَسَوَّاكَ فَعَدَلَكَ ۝٧

၇။ အကြင်အရှင်မြတ်သည် အသင်(လူသား)အား ဖန်ဆင်းတော်မူခဲ့၏။ တဖန် အသင်၏(ဤအဆစ်အပိုင်းများ)ကို နေထားတကျဖြစ်အောင်လည်း ပြုပြင်တော်မူခဲ့၏။ တဖန် အသင့်အား အချိုးအစားကျအောင်လည်း စီမံတော်မူခဲ့၏။

فِي أَيِّ صُورَةٍ مَّا شَاءَ رَكَّبَكَ ۝٨

၈။ မိမိအလိုရှိတော်မူသော ပုံသဏ္ဌာန်၌ အသင့်အား စီစဉ်ပြုလုပ် (ဖန်ဆင်း)တော်မူခဲ့၏။

كَلَّا بَلْ تُكَذِّبُونَ بِالدِّينِ ۝٩

၉။ (မည်သည့်အကြောင်းမျှ) အလျှင်းမဟုတ်၊ စင်စစ်မှာမူကား အသင်တို့သည် အစားပေးခြင်းကိုပင် မဟုတ်မမှန်ဟူ၍ ငြင်းပယ်ကြကုန်၏။

وَإِنَّ عَلَيْكُمْ لَحَافِظِينَ ۝١٠

၁၀။ စင်စစ်သော်ကား အသင်တို့အပေါ်၌ ကိုယ်စောင့်များသည် ဧကန်မလွဲ ရှိကြကုန်၏။

كِرَامًا كَاتِبِينَ ۝١١

၁၁။ (ငါအရှင်မြတ်အထံတော်၌) မြင့်မြတ်သူများ၊ (အသင်တို့၏ ပြောဆိုပြုမူချက်တို့ကို) ရေးမှတ်သူများ။

يَعْلَمُونَ مَا تَفْعَلُونَ ۝١٢

၁၂။ ၎င်းတို့သည် အသင်တို့ ပြုလုပ်သမျှတို့ကို သိရှိကြကုန်သတည်း။

| | |
|---|---|
| ၁၃။ ကေန်မလွဲ သူတော်ကောင်းတို့သည် ထာဝရ သုခဌာ ရှိကြပေမည်။ | إِنَّ الْأَبْرَارَ لَفِي نَعِيمٍ ﴿١٣﴾ |
| ၁၄။ သို့ရာတွင် ဆိုးသွမ်းသူတို့မူကား ကေန်မလွဲ 'ဂျဟန္နမ်' ငရဲဌာပင် ရှိကြပေမည်။ | وَإِنَّ الْفُجَّارَ لَفِي جَحِيمٍ ﴿١٤﴾ |
| ၁၅။ ၎င်းတို့သည် ထို'ဂျဟန္နမ်' ငရဲသို့ အစားပေး မည့်နေ့တွင် ဝင်ကြရပေမည်။ | يَصْلَوْنَهَا يَوْمَ الدِّينِ ﴿١٥﴾ |
| ၁၆။ ထို့ပြင် ၎င်းတို့သည် ယင်းငရဲမှ ခွဲခွာမည့် သူများ၊ (ထွက်ရမည့်သူများ) မဟုတ်ကြချေ။ | وَمَا هُمْ عَنْهَا بِغَائِبِينَ ﴿١٦﴾ |
| ၁၇။ စင်စစ် အစားပေးမည့်နေ့သည် အဘယ်ကဲ့ သို့သောနေ့ပါနည်းဟု အသင်သိပါသလော။ | وَمَا أَدْرَاكَ مَا يَوْمُ الدِّينِ ﴿١٧﴾ |
| ၁၈။ တဖန် အစားပေးမည့်နေ့သည် အဘယ်ကဲ့ သို့သောနေ့ဖြစ်သည်ကို အသင်သိပါသလော။ | ثُمَّ مَا أَدْرَاكَ مَا يَوْمُ الدِّينِ ﴿١٨﴾ |
| ၁၉။ (ထိုနေ့သည်ကား) မည်သူမျှပင် မည်သူတဦး တယောက်ကိုမျှ လုံးဝ အကျိုးပြုပိုင်ခွင့်မရှိသောနေ့ ပင်။ ထိုနေ့တွင်ကား အမိန့်အာဏာ အလုံးစုံတို့သည် အလ္လာဟ်အရှင်မြတ်၌သာ ရှိကုန်အံ့သတည်း။ | يَوْمَ لَا تَمْلِكُ نَفْسٌ لِّنَفْسٍ شَيْئًا ۖ وَالْأَمْرُ يَوْمَئِذٍ لِّلَّهِ ﴿١٩﴾ |

# အလေးတင်းတောင်းစဉ်းလဲခြင်းကဏ္ဍ




ဤကဏ္ဍသည် "တတ်ဖိဖ်" အလေးတင်းတောင်းစဉ်းလဲခြင်းအကြောင်း ပါဝင်သောကဏ္ဍမည်၏။ မက္ကာမြို့တော်၌ ကျရောက်ခဲ့၏။ ဤကဏ္ဍတွင် အာယတ်တော်(၃၆)ပါး ပါရှိ၏။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ ○

မပြတ်မစဲ သနားကြင်နာ ညှာတာတော်မူသော၊ မဟာကရုဏာရှင် ဖြစ်တော်မူသော အလ္လာဟ်အရှင်မြတ်၏နာမံတော်ဖြင့် အစပြုပါ၏။

وَيْلٌ لِّلْمُطَفِّفِيْنَ ①

၁။ အလေး၊ တင်းတောင်း၊ ခွက်၊ စသည်ကို စဉ်းလဲသူတို့သည် ပျက်စီးကြရပေမည်။

الَّذِيْنَ اِذَا اكْتَالُوْا عَلَى النَّاسِ يَسْتَوْفُوْنَ ②

၂။ အကြင်သူတို့သည် သူတပါးထံမှ ခြင်တွယ်၍ ယူကြရသောအခါ အပြည့်(ခြင်၍)ရယူကြလေသည်။

وَاِذَا كَالُوْهُمْ اَوْ وَّزَنُوْهُمْ يُخْسِرُوْنَ ③

၃။ သို့ရာတွင် ၎င်းတို့သည် သူတပါးတို့အား ခြင်တွယ်၍သော်လည်းကောင်း၊ သူတပါးတို့အား ချိန်တွယ်၍သော်လည်းကောင်း၊ ပေးကြသောအခါ လျှော့၍ ပေးကြလေသည်။

اَلَا يَظُنُّ اُولٰٓئِكَ اَنَّهُمْ مَّبْعُوْثُوْنَ ④

၄။ ၎င်းတို့သည် မိမိတို့မှာ ကောင်အမှန် ရှင်ပြန်ထကြရမည့်သူများ ဖြစ်ကြသည်ကို မယုံကြည်ကြလေသလော။

لِيَوْمٍ عَظِيْمٍ ⑤

၅။ ကြီးကျယ်လှစွာသောနေ့တွင်။

يَّوْمَ يَقُوْمُ النَّاسُ لِرَبِّ الْعٰلَمِيْنَ ⑥

၆။ အကြင်နေ့တွင် လူခပ်သိမ်းတို့သည် စကြာဝဠာခပ်သိမ်းကို ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၏ ရှေ့တော်မှောက်တွင် ရပ်ကြကုန်အံ့သတည်း။ [၁]

---

(၁) **အလေးတင်းတောင်း မစဉ်းလဲရ။**

အလေးတင်းတောင်း စဉ်းလဲသူများသည် သူတပါးထံမှ ခြင်တွယ်ဝယ်ယူကြသောအခါ အပြည့်ခြင်ယူကြသည်။ သူတပါးတို့အား ခြင်၍သော်လည်းကောင်း၊ ချိန်၍သော်လည်းကောင်း ပေးကြသောအခါ ➤➤

كَلَّآ إِنَّ كِتٰبَ الْفُجَّارِ لَفِىْ سِجِّيْنٍ ۝٧
၇။ အလျှင်းမဟုတ်၊ ကေန်စင်စစ် ဒုစရိုက်ကျူးလွန်သောသူတို့၏ မှတ်တမ်းသည် "စစ်ဂျ်ဂျိန်"၌ရှိ၏။

وَمَآ أَدْرٰىكَ مَا سِجِّيْنٌ ۝٨
၈။ "စစ်ဂျ်ဂျိန်"သည် မည်သည့်အရာဖြစ်ကြောင်း အသင် သိပါသလော။

كِتٰبٌ مَّرْقُوْمٌ ۝٩
၉။ (ယင်း"စစ်ဂျ်ဂျိန်"မှာ) ရေးသားပြီးဖြစ်သော မှတ်တမ်းစာအုပ် တစ်အုပ်ပင် ဖြစ်ချေသည်။ [1]

وَيْلٌ يَّوْمَئِذٍ لِّلْمُكَذِّبِيْنَ ۝١٠
၁၀။ ထိုနေ့တွင် မဟုတ်မမှန်ဟူ၍ ငြင်းပယ်ကြသောသူတို့သည် ပျက်စီးကြရပေမည်။

الَّذِيْنَ يُكَذِّبُوْنَ بِيَوْمِ الدِّيْنِ ۝١١
၁၁။ အကြင် သူတို့သည် အစားပေးမည့်နေ့ကို မဟုတ်မမှန်ဟူ၍ ငြင်းပယ်ကြကုန်၏။

---

➤➤ လျှော့၍ပေးကြသည်။ ဤသည် မတရားပြုခြင်းပင်။ ခေါင်းပုံဖြတ်ခြင်းပင်။ ထိုသို့သော အလေးတင်းတောင်းစဉ်းလဲသူများသည် ပျက်စီးကြရမည် သာဖြစ်သည်။

ယင်းသို့သောသူများသည် တစ်ရက် ငါတို့သည် ရှင်ပြန်ထကြရဦးမည်။ ထိုနေ့တွင် လူသားအားလုံးတို့သည် အလ္လာဟ်အရှင်မြတ် ရှေ့တော်မှောက် ရောက်ကြရမည်။ လူ့လောကတွင် မိမိတို့ ပြုမူခဲ့ကြသည်များနှင့် စပ်လျဉ်း၍ စာရင်းအင်းရှင်းကြရမည်ကို မတွေးမိကြပေ၊ မယုံကြည်ကြပေ။

သို့တွေးမိကြပါက ယုံကြည်ကြပါက ၎င်းတို့သည် အလေးတင်းတောင်း စဉ်းလဲကြမည်မဟုတ်ပေ၊ ခေါင်းပုံဖြတ်ကြမည် မဟုတ်ပေ။ မတရားမှု အလျင်းပြုကြမည်မဟုတ်ပေ။

ရောင်းဝယ်ရာတွင် အလေးတင်းတောင်း မစဉ်းလဲရမည့်အကြောင်း၊ အပြည့်အဝ ပေးရမည့်အကြောင်း ကုရ်အာန်ကျမ်းမြတ်တွင် မြောက်မြားစွာသော နေရာများ၌ မိန့်ဆိုထားတော်မူပေသည်။ ကြည့်- ကုရ်အာန် (၆း၁၅၃။ ၇း၈၅။ ၁၁း၈၄-၈၅။ ၁၇း၃၅။ ၂၆း၁၈၁-၁၈၃။ ၅၅း၇-၉)။

အလ္လာဟ်အရှင်မြတ်သည် တမန်တော်ရှုအိုက်ဗ်၏ အမျိုးသားများကို အလေးတင်းတောင်း စဉ်းလဲခဲ့ကြသည့်အတွက် ကွပ်မျက်တော်မူခဲ့သည် မဟုတ်ပါလော။ ကြည့်-ကုရ်အာန် (၇း၈၅-၉၃။ ၁၁း၈၄-၉၅။ ၂၆း၁၇၆-၁၉၁)။ ဤအကြောင်းနှင့်စပ်လျဉ်း၍ ကုရ်အာန် (၇း၈၅)၏အဖွင့်တွင် အကျယ်ရေးသားခဲ့ပေပြီ။

(၁) **"စစ်ဂျ်ဂျိန်"**

"စစ်ဂျ်ဂျိန်"သည် ကာဖိရ် သူယုတ်မာများ၏ အမည်နာမများ ရေးမှတ်ထားသော မှတ်တမ်းစာအုပ်ဖြစ်သည်။ အချို့ ရိုဝါယတ် ကျမ်းချက်များကို ကြည့်ခြင်းအားဖြင့် "စစ်ဂျ်ဂျိန်" သည် အဆိုပါ မှတ်တမ်းစာအုပ် ထားရာဌာနဖြစ်ကြောင်း၊ ကာဖိရ် သူယုတ်မာများ၏ ဝိညာဉ်များကိုလည်း ထိုဌာနမှာပင် ထားရှိကြောင်း သိရလေသည်။

وَمَا يُكَذِّبُ بِهِۦٓ إِلَّا كُلُّ مُعْتَدٍ أَثِيمٍ ۝١٢

၁၂။ စင်စစ် ယင်းအစားပေးမည့်နေ့ကို ကျူးကျော်သူ၊ အလွန် ပြစ်မှုထင်ရှားသော သူသည်သာလျှင် မဟုတ်မမှန်ဟူ၍ ငြင်းပယ်လေ့ရှိ၏။

إِذَا تُتْلَىٰ عَلَيْهِ ءَايَـٰتُنَا قَالَ أَسَـٰطِيرُ ٱلْأَوَّلِينَ ۝١٣

၁၃။ ၎င်း၏ရှေ့ဝယ် ငါအရှင်မြတ်၏ အာယတ်တော်များ ဖတ်ကြားသောအခါ "ဤသည် ရှေးလူဟောင်းတို့၏ပုံပြင်များသာ ဖြစ်ကြသည်"ဟု ၎င်းက ပြောဆိုလေ့ရှိ၏။

كَلَّا ۖ بَلْ ۜ رَانَ عَلَىٰ قُلُوبِهِم مَّا كَانُوا۟ يَكْسِبُونَ ۝١٤

၁၄။ အလျှင်းမဟုတ်၊ စင်စစ်မှာကား ၎င်းတို့သည် ဆည်းပူးလျက် ရှိခဲ့ကြသည့် (ပြစ်မှု)များသည် ၎င်းတို့၏စိတ်နှလုံးများပေါ်၌ ဖုံးလွှမ်းခဲ့ပြီးဖြစ်၏။

كَلَّآ إِنَّهُمْ عَن رَّبِّهِمْ يَوْمَئِذٍ لَّمَحْجُوبُونَ ۝١٥

၁၅။ အလျှင်းမဟုတ်၊ ဧကန်မလွဲ ၎င်းတို့သည် ထိုနေ့တွင် မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်(အား ဖူးမျှော်ခြင်း)မှ ကာကွယ်ခြင်းကို ခံကြရမည့်သူများပင် ဖြစ်ကြပေသည်။

ثُمَّ إِنَّهُمْ لَصَالُوا۟ ٱلْجَحِيمِ ۝١٦

၁၆။ ထို့နောက် ဧကန်မလွဲ ၎င်းတို့သည် 'ဂျဟန္နမ်' ငရဲထဲသို့ ဝင်ရောက်ကြရပေမည်။ ၁

---

① **အစားပေးတော်မူမည့်နေ့ကို ငြင်းပယ်သောသူများသည် ပျက်စီးကြရမည်သာ။**

အစားပေးတော်မူမည့်နေ့ကို ငြင်းပယ်သူများသည် အလ္လာဟ်အရှင်မြတ်၏ ဖန်ဆင်းမွေးမြူမှုတန်ခိုးတော်၊ ထိုအရှင်မြတ်၏ တရားမျှတမှု စသည့်အားလုံးတို့ကို ငြင်းပယ်သူများသာ ဖြစ်ကြပေသည်။ ထိုသို့သောသူများသည် မည်သည့်ပြစ်မှုကို ကျူးလွန်ရန် နောက်ဆန်မငင်ကြပေ။

ထိုသို့သောသူများသည် အလ္လာဟ်အရှင်မြတ်၏ တရားတော်များကို ကြားလျှင် ဤသည်တို့သည် ရှေ့သူဟောင်းတို့၏ ပုံပြင်ဒဏ္ဍာရီများသာဖြစ်သည်။ ငါတို့သည် ဤသို့သော ပုံပြင်ဒဏ္ဍာရီများကို ဂရုမမူကြဟူ၍ပင် မိုက်မဲစွာ ပြောဆိုကြလေသည်။

အလ္လာဟ်အရှင်မြတ်၏ တရားတော်များသည် အစမှအဆုံးတိုင် မှန်ကန်သည်သာဖြစ်သည်။ ဤတွင် ဒွိဟသံသယ အလျင်းမရှိ။ အမှန်မှာ ပြစ်မှုဒုစရိုက်များကို အမြဲတစေ ကျူးလွန်နေကြသည့်အတွက် ယင်းကာဖိရ်တို့၏ စိတ်နှလုံးများအပေါ်တွင် သံချေးများ တက်လျက်ရှိချေပြီ။ ထို့အတွက် ၎င်းတို့သည် အမှန်တရားကို မကြားလိုကြ၊ မမြင်လိုကြ၊ မတွေးလိုကြ၊ မနာလိုကြ။ အမှန်တရားကို မကြားလို၊ မမြင်လို၊ မတွေးလို၊ မနာလိုကြသည်သာမက အမှန်တရားကိုပင် ပြက်ရယ်ပြုလာကြပေသည်။ ဆန့်ကျင်လာကြပေသည်။ ▷▷

ثُمَّ يُقَالُ هٰذَا الَّذِىْ كُنْتُمْ بِهٖ تُكَذِّبُوْنَ ﴿١٧﴾

၁၇။ ထို့နောက် (၎င်းတို့အား) "ဤသည် အသင်တို့က မဟုတ်မမှန်ဟူ၍ ငြင်းပယ်လေ့ရှိခဲ့သောအရာပင် ဖြစ်သည်"ဟု ပြောဆိုခြင်း ခံရအံ့သတည်း။

كَلَّآ اِنَّ كِتٰبَ الْاَبْرَارِ لَفِىْ عِلِّيِّيْنَ ﴿١٨﴾

၁၈။ အလျှင်းမဟုတ်၊ ကောင်းမွန် သူတော်ကောင်းတို့၏မှတ်တမ်းမှာ "အစ်လ်လီယီန်" ၌ ရှိ၏။

وَمَآ اَدْرٰىكَ مَا عِلِّيُّوْنَ ﴿١٩﴾

၁၉။ သို့ရာတွင်၊"အစ်လ်လီယီန်"သည် အဘယ်အရာဖြစ်သည်ကို အသင်သည် အသို့လျှင်သိနိုင်အံ့နည်း။

كِتٰبٌ مَّرْقُوْمٌ ﴿٢٠﴾

၂၀။ (ယင်း "အစ်လ်လီယီန်" ကား) ရေးသားပြီးဖြစ်သော မှတ်တမ်းစာအုပ်ပင်။ ၁

➤➤ တမန်တော်မြတ်၏ ဩဝါဒတော်များတွင် လာရှိသည်မှာ လူတစ်ယောက်သည် ပြစ်မှုတစ်စုံတစ်ရာကို ကျူးလွန်လိုက်သည့်အခါ ထိုသူ၏ စိတ်နှလုံးပေါ်တွင် အမည်းစက်တစ်ခု ထင်လာသည်။ အကယ်၍ ထိုသူသည် မိမိ၏အမှားကို ဝန်ချတောင်းပန်ပါက ထိုအမည်းစက်သည် ပျောက်သွားလေသည်။

သို့မဟုတ်ပါဘဲ အကယ်၍ ထိုသူသည် ဆက်လက်၍ ပြစ်မှုများ ကျူးလွန်နေပါက ထိုအမည်းစက်သည် ကြီးထွားပြန့်ပွားလာပြီး နောက်ဆုံးတွင် ထိုသူ၏စိတ်နှလုံးတစ်ခုလုံးသည် လုံးဝမည်း၍ သွားလေတော့သည်။ (ထိုအခါ ထိုသူသည် အမှားနှင့်အမှန်ကို ခွဲခြားမသိမြင်နိုင်တော့ပေ)။ ဤကား ကုရ်အာန် ကျမ်းများတွင် စိတ်နှလုံးများ၏ အပေါ်၌ သံချေးတက်ခြင်း သဘောပင်။ ထို့အတူ အထက်ဖော်ပြပါအစား ပေးတော်မူမည့်နေ့ကို ငြင်းပယ်နေသော ကာဖိရ်များသည်လည်း ပြစ်မှုများကို အမြဲတစေ ကျူးလွန်နေကြသည့်အတွက် ၎င်းတို့၏ စိတ်နှလုံးများသည် မည်းလျက် ခက်ထန်လျက် ရှိချေပြီ။ ထို့အတွက် ၎င်းတို့သည် ကျမ်းဂန်တရားတော်များကို မနာခံကြသည်သာမက ပြက်ရယ်သမှုပြုလျက် ရှိကြချေပြီ။

ထိုသို့သော ကာဖိရ်များသိထားအပ်ကြသည်မှာ အစားပေးတော်မူမည့်နေ့သည် အချိန်ကျက မုချဆိုက်ရောက်လာမည်သာ ဖြစ်သည်။ ထိုအခါ စိတ်နှလုံးမည်းနေသော ကာဖိရ်များသည် အလ္လာဟ် အရှင်မြတ်အား ဖူးတွေ့နိုင်ကြမည်မဟုတ်ပေ။ စိတ်နှလုံး သံချေးတက်နေသော ကာဖိရ်သည် ဂျဟန္နမ်ငရဲသို့ လားကြရပေမည်။ ဤကား စိတ်နှလုံးမည်းခြင်း၊ သံချေးတက်ခြင်း၏ အကျိုးပင်။ မုအ်မင်န် သူတော်စင်တို့မူကား အလ္လာဟ်အရှင်မြတ်အား ဖူးတွေ့ရပေမည်။ ဂျန္နတ်သုခဘုံတွင် ချမ်းသာသုခအဝဝနှင့် ပြည့်ဝစွာရှိကြပေမည်။

ရှေ့တွင် မုအ်မင်န်သူတော်စင်များ စံစားကြရမည့် သုခချမ်းသာအဖြာဖြာကို မိန့်ဆိုထားတော်မူသည်။

① **"အစ်လ်လီယီန်"**

'အစ်လ်လီယီန်' သည် မုအ်မင်န်သူတော်စင်များ၏ အမည်များကို ရေးမှတ်ထားသော မှတ်တမ်းစာအုပ်ဖြစ်သည်။ အချို့ကျမ်းချက်များကို ကြည့်ခြင်းအားဖြင့် "အစ်လ်လီယီန်" သည် အဆိုပါ မှတ်တမ်းထားရာဌာနဖြစ်ကြောင်း၊ မုအ်မင်န်သူတော်စင်များ၏ ဝိညာဉ်များကိုလည်း ထိုဌာနမှာပင် ထားရှိကြောင်း သိရှိရပေသည်။

အိဗ်နုကဆီရ်။

يَّشْهَدُهُ الْمُقَرَّبُوْنَ ﴿٢١﴾

၂၁။ ယင်း မှတ်တမ်းစာအုပ်ကို အပါးတော်၌ရှိကုန်သော ကောင်းကင်တမန်တို့သည် ကြည့်ရှုကြပေမည်။

اِنَّ الْاَبْرَارَ لَفِیْ نَعِیْمٍ ﴿٢٢﴾

၂၂။ ကေန်မလွဲ သူတော်ကောင်းတို့မှာ ထာဝရသုခ၌ ရှိကြပေမည်။

عَلَى الْاَرَآئِكِ یَنْظُرُوْنَ ﴿٢٣﴾

၂၃။ ၎င်းတို့သည် သလွန်များထက်ဝယ် စံမြန်းကာ ရှုစားကြလျက် ရှိကြပေမည်။

تَعْرِفُ فِیْ وُجُوْهِهِمْ نَضْرَةَ النَّعِیْمِ ﴿٢٤﴾

၂၄။ အသင်သည် ၎င်းတို့၏ မျက်နှာများတွင် ငြိမ်းချမ်းမှု၏စိုပြည်ခြင်းကို (မြင်သောအခါ) ခွဲခြား၍ သိနိုင်ပေမည်။

یُسْقَوْنَ مِنْ رَّحِیْقٍ مَّخْتُوْمٍ ﴿٢٥﴾

၂၅။ ၎င်းတို့သည် တံဆိပ်ခတ်ထားသော (ကြည်လင် သန့်ရှင်းသော) အရက်အစစ် တိုက်ကျွေးခြင်းကို ခံကြရပေမည်။

خِتٰمُهٗ مِسْكٌ ؕ وَفِیْ ذٰلِكَ فَلْیَتَنَافَسِ الْمُتَنٰفِسُوْنَ ﴿٢٦﴾

၂၆။ ထိုအရက်၏တံဆိပ်မှာ ကတိုးဖြစ်၏။ စင်စစ်သော်ကား ပြိုင်ဆိုင်သူတို့သည် (လိုလားသူတို့) ဤသည်ကိုပင် အပြိုင်အဆိုင် ရယူထိုက်ကြပေသည်။ (လိုလားအပ်ကြပေသည်)။

وَمِزَاجُهٗ مِنْ تَسْنِیْمٍ ﴿٢٧﴾

၂၇။ ယင်းအရက်၏ ရောစပ်ရာမှာ "တတ်စ်နီမ်"မှ ဖြစ်၏။

عَیْنًا یَّشْرَبُ بِهَا الْمُقَرَّبُوْنَ ﴿٢٨﴾

၂၈။ (ယင်း"တတ်စ်နီမ်"မှာ) စမ်းတစ်ခုပင် ဖြစ်သည်။ အလ္လာဟ်အရှင်မြတ်နှင့် နီးစပ်သော သူမွန်သူမြတ်တို့ကား ယင်း"တတ်စ်နီမ်"မှပင် သောက်သုံးကြကုန်သတည်း။ ၁

---

① ဂျန္နတ်သုခဘုံရှိ ချမ်းသာသုခများကို လူသားတို့သည် ဤပစ္စက္ခရှိ မျက်စိ၊ နား၊ စိတ်နှလုံးတို့ဖြင့် မမြင်နိုင်၊ မကြားနိုင် မတွေးနိုင်ကြချေ။ လူသားတို့ အနည်းငယ် မှန်းဆနိုင်ရန်အတွက် ဂျန္နတ်တွင် ▶▶

إِنَّ الَّذِينَ أَجْرَمُوا كَانُوا مِنَ الَّذِينَ آمَنُوا يَضْحَكُونَ ﴿٢٩﴾

၂၉။ ကေန်စင်စစ် ပြစ်မှုကျူးလွန်ခဲ့ကြသောသူတို့သည် "မုအ်မင်န်" သက်ဝင်ယုံကြည်သူတို့အပေါ်၌ ရယ်မောလေ့ရှိခဲ့ကြကုန်၏။

وَإِذَا مَرُّوا بِهِمْ يَتَغَامَزُونَ ﴿٣٠﴾

၃၀။ ၎င်းပြင် ထို သက်ဝင်ယုံကြည်သူတို့သည် ၎င်းတို့အနီးမှဖြတ်၍ လျှောက်သွားကြသောအခါ ၎င်းတို့သည် မျက်ရိပ်ပြ(ကာ ကျီစယ်)လေ့ရှိခဲ့ကြကုန်၏။

وَإِذَا انْقَلَبُوا إِلَىٰ أَهْلِهِمُ انْقَلَبُوا فَكِهِينَ ﴿٣١﴾

၃၁။ ထို့ပြင် ၎င်းတို့သည် မိမိတို့ အိမ်သူအိမ်သားထံပြန်ခဲ့ကြသောအခါ (ထိုသက်ဝင်ယုံကြည်သူတို့၏ အကြောင်းများကို စားမြုံ့ပြန်၍) ဝမ်းမြောက်ဝမ်းသာ ဖြစ်ကြကုန်၏။ (ရယ်မောမြူးတူးကျီစယ်ကြကုန်၏)။

وَإِذَا رَأَوْهُمْ قَالُوا إِنَّ هَٰؤُلَاءِ لَضَالُّونَ ﴿٣٢﴾

၃၂။ ထိုမှတပါး ၎င်းတို့သည် ထိုသက်ဝင်ယုံကြည်သူတို့အား တွေ့မြင်ကြသောအခါ "ဧကန်မလွဲ ဤသူတို့သည် အမှန်ပင် လမ်းလွဲသူများ ဖြစ်ကြသည်"ဟု ပြောဆိုကြကုန်၏။

وَمَا أُرْسِلُوا عَلَيْهِمْ حَافِظِينَ ﴿٣٣﴾

၃၃။ စင်စစ်သော်ကား ၎င်းတို့သည် ထိုသက်ဝင်ယုံကြည်သူတို့အပေါ်၌ ကြီးကြပ် အုပ်ထိန်းသူများ အဖြစ် စေလွှတ်ခြင်း ခံခဲ့ကြရသည် မဟုတ်ပေ။

---

➤➤ စံစားရမည့် အချို့ပစ္စည်းများကိုသာ ဖော်ပြထား၏။ ထိုပစ္စည်းများသည် ဤကမ္ဘာရှိ ပစ္စည်းများနှင့် အမည်တူသော်လည်း အရည်မတူ၊ အဆင်းတူသော်လည်း အချင်းကားမတူ။

ဤအာယတ်တော်တွင် ဂျန္နတ်၌ ဂျန္နတ်သားတို့သည် (ရဟီက်) ရသာရည်ကို သောက်သုံးကြရမည့် အကြောင်း ဖော်ပြထားတော်မူသည်။ "ရဟီက်" သည် အလွန်ကြည်လင် သန့်ရှင်းသော အနံ့အရသာနှင့် ပြည့်ဝသော၊ စွမ်းရည်သတ္တိနှင့်ပြည့်စုံသော အံ့မဆုံးသည့် ရသာရည်တစ်မျိုးပင်။ ထိုသည့် ရဟီက်ဟူသော ပုဒ်ကို မုဖတ်စ်စီရ်များက ခမ်ရ်၊ (Wine)"အရက်" ဟူ၍ အနက်ဖွင့်ကြသည်။ ထိုသို့ အနက်ဖွင့်ထားသည်ကို ကြည့်ပြီး အချို့က"ဂျန္နတ်" နှင့် အရက် လားလားမျှ မအပ်" ဟု ဆိုကောင်းဆိုကြပေမည်။

သို့ရာတွင် အထက်၌ ဖွင့်ဆိုရေးသားထားသကဲ့သို့ ဂျန္နတ်ရှိအရာများကို ကျွန်ုပ်တို့သည် ဤပစ္စက္ခ အာရုံများဖြင့် မမြင်နိုင်၊ မကြားနိုင်၊ မတွေးနိုင်ကြပေ။ ထို့ပြင်တဝ ဂျန္နတ်ရှိ အရက်သည်လည်း ဤကမ္ဘာရှိ အရက်နှင့် လားလားမျှတူမည်မဟုတ်။ အမည်တူသော်လည်း အရည်အချင်းကား အလျှင်းတူမည်မဟုတ်ပေတကား။

فَالْيَوْمَ الَّذِينَ آمَنُوا مِنَ الْكُفَّارِ يَضْحَكُونَ ﴿٣٤﴾

၃၄။ သို့ဖြစ်ပေရာ ယနေ့သော်ကား "မုအ်မင်န်" သက်ဝင်ယုံကြည်သူတို့သည် "ကာဖိရ်" သွေဖည်ငြင်းပယ်သောသူတို့အပေါ်ဝယ် ရယ်ကြပေမည်။

عَلَى الْأَرَائِكِ يَنظُرُونَ ﴿٣٥﴾

၃၅။ ထိုသက်ဝင်ယုံကြည်သူတို့မှာ သလွန်များထက်ဝယ် စံမြန်းလျက်ကြည့်ရှုကြပေမည်။

هَلْ ثُوِّبَ الْكُفَّارُ مَا كَانُوا يَفْعَلُونَ ﴿٣٦﴾

၃၆။ "ကာဖိရ်" သွေဖည်ငြင်းပယ်သောသူတို့သည် မိမိတို့ပြုလုပ်လေ့ရှိခဲ့ကြသော အပြုအမူတို့၏အကျိုးပေးဆပ်ခြင်းကို ခံကြရပြီမဟုတ်လော။[၁]

---

(၁) သူ့ကို ငါဖျက် ငါလျှင်ပျက်

လူ့လောက၌ ဒုစရိုက်မှုများတွင် နစ်မွန်း၍ ဆိုးမိုက်နေသော ကာဖိရ်များသည် မုအ်မင်န်များအား အထင်အမြင်သေးကာ ပြက်ရယ်သမှု ပြုလေ့ရှိကြ သည်။ ၎င်းတို့အနီးမှ မုအ်မင်န်များ ဖြတ်သွားလျှင် မျက်ရိပ်ပြကာ ကျီစယ်လေ့ရှိခဲ့ကြသည်။ မိမိတို့၏ အိမ်သူအိမ်သားများထံ ပြန်ကြသောအခါ မုအ်မင်န်များ၏ အကြောင်းစမြုံ့ပြန်ပြီး အားပါးတရ ပြက်ရယ်လေ့ ရှိကြသည်။ ကာဖိရ်များသည် မုအ်မင်န်များကို မြင်သောအခါ မိမိတို့၏ ထင်မြင်ယူဆချက်အရ ဤသူများသည် အမှန်မုချ လမ်းလွဲမှားသူများ ဖြစ်ကြသည် ဟူ၍ပင် ဆိုလေ့ ရှိခဲ့ကြသည်။ ဤသို့ဖြင့် ကာဖိရ်များသည် မုအ်မင်န်တို့အား ရှေ့တွင်တစ်မျိုး၊ ကွယ်ရာတစ်ဖုံ၊ မျက်ရိပ်ပြ၍ တစ်နယ်၊ ဖွင့်ဟ၍တစ်သွယ် ပြက်ရယ်သမှု ပြုခဲ့ကြလေသည်။

အမှန်မှာ ကာဖိရ်များသည် မုအ်မင်န်များအား ကြီးကြပ်အုပ်ထိန်းသူများလည်း မဟုတ်ကြပေ။ သူတပါးအား ပြက်ရယ်ပြုနေရန်မလိုပေ။ သူတပါးအရေးထက် ကိုယ့်အရေး တွေးကြရပေမည်။ ယခုမူ အမှန်တရား ရရှိနေကြသော မုအ်မင်န်များကိုပင် ပြက်ရယ်သမှု ပြုနေကြသည်။ မိမိတို့အရေးကို မေ့နေကြသည်။ ဤကား မဟာအမှားပင်၊ မိုက်မဲမှုပင်။ ယင်းသို့သော ကာဖိရ်များသည် "သူ့ကိုငါဖျက် ငါလျှင်ပျက်" ဆိုသကဲ့သို့ ကိယာမတ်နေ့တွင် မိမိတို့ မိုက်မဲမှု၊ ဆိုးသွမ်းမှုများ၏အကျိုးကို လုလုကြီးခံစားရမည်။ ၎င်းတို့ အထင်အမြင်သေးခဲ့သော၊ ပြက်ရယ်သမှုပြုခဲ့သော မုအ်မင်န်များသည် ဂျန္နတ်သုခဘုံတွင် စံမြန်းလျက် ရှိကြမည်။ တစ်ချိန်က ၎င်းတို့သည် မုအ်မင်န်တို့အား ပြက်ရယ်ခဲ့ကြသည်။ ယနေ့ မုအ်မင်န်များသည် ၎င်းတို့အားကြည့်၍ ရယ်ကြမည်။ ဤကား မည်သူမပြု မိမိမှုပင်၊ ကိုယ့်ရှူးကိုယ်ပတ်ခြင်းပင်။

ဤသည့်သဘောကို ကုရ်အာန် (၂၃း၁၀၀-၁၁၁) တွင်လည်း မိန့်ဆိုထားတော်မူသည်။

# ကွဲအက်ခြင်းကဏ္ဍ

سُورَةُ الانشِقَاقِ

ဤကဏ္ဍသည် "အင်န်ရှိကာက်" ကွဲအက်ခြင်းအကြောင်း ပါဝင်သောကဏ္ဍဖြစ်သည်။ မက္ကာမြို့တော်၌ ကျရောက်ခဲ့သည်။ ဤကဏ္ဍတွင် အာယတ်တော် (၂၅)ပါး ပါရှိသည်။

بِسْمِ اللَّهِ الرَّحْمَٰنِ الرَّحِيمِ

မပြတ်မစဲ သနားကြင်နာ ညှာတာတော်မူသော၊ မဟာကရုဏာတော်ရှင် ဖြစ်တော်မူသော၊ အလ္လာဟ်အရှင်မြတ်၏နာမံတော်ဖြင့် အစပြုပါ၏။

إِذَا السَّمَاءُ انشَقَّتْ ①

၁။ အကြင်အခါဝယ် မိုးကောင်းကင်သည် အက်ကွဲ၍ သွားပေမည်။

وَأَذِنَتْ لِرَبِّهَا وَحُقَّتْ ②

၂။ ၎င်းပြင် ထိုမိုးကောင်းကင်သည် မိမိအား ဖန်ဆင်းတော်မူသောအရှင်မြတ်၏ အမိန့်တော်ကို နာခံပေမည်။ စင်စစ် ယင်းမိုးကောင်းကင်သည် (ယင်းသို့နာခံရန်သာ) ထိုက်တန်ပေသည်။ [၁]

وَإِذَا الْأَرْضُ مُدَّتْ ③

၃။ ထို့ပြင် အကြင်အခါဝယ် ပထဝီမြေသည် ဆွဲဖြန့်ခြင်းကို ခံရပေမည်။

وَأَلْقَتْ مَا فِيهَا وَتَخَلَّتْ ④

၄။ ၎င်းပြင် ယင်းပထဝီမြေသည် မိမိအတွင်း၌ ရှိသောအရာဝတ္ထုများကို (အပြင်သို့ အန်)ထုတ်ပြီး လျှင် ဗလာချည်း ဖြစ်သွားပေမည်။ [၂]

---

(၁) **မိုးအက်ကွဲသွားမည်။**

အလ္လာဟ်အရှင်မြတ် ထံတော်မှ အမိန့်တော် ကျရောက်လာသည့်အခါ မိုးသည်ပင် အက်ကွဲသွားပေမည်။ အမိန့်တော် နာခံပေမည်။ နာခံရမည်သာဖြစ်သည်။

(၂) **မြေသည် အန်ထုတ်မည်။**

ကိယာမတ်နေ့တွင် ကမ္ဘာမြေကြီးသည် ကြက်ပေါင်စေးကဲ့သို့ ဆွဲဖြန့်ခြင်း ခံရပေမည်။ ထိုအခါ မြေမျက်နှာပြင်တွင် နိမ့်မြင့် ဖြစ်နေသည်များသည် ပျောက်ကွယ်သွားပေမည်။ မြေမျက်နှာပြင်သည် ရေပြင်အလား ညီညွတ်သွားပေမည်။ လူသားအားလုံးတို့သည် မြေမျက်နှာပြင်ပေါ်တွင် အကာအကွယ်မရှိ ထင်လင်းစွာ ပေါ်ထွက်လာကြပေမည်။ ကိယာမတ်နေ့တွင် ကမ္ဘာမြေကြီးသည် မိမိအတွင်းသို့ ရောက်ရှိနေသော ဘဏ္ဍာများ၊ လူသားတို့၏ အစိတ်အပိုင်းများ၊ ကျိုးပြစ်ခံစံရန်ရှိသော အရာများအားလုံးတို့ကို အန်ထုတ်ပေမည်။

وَاَذِنَتۡ لِرَبِّهَا وَحُقَّتۡ ۝٥

၅။ ထို့ပြင် ယင်းပထဝီမြေသည် မိမိအား ဖန်ဆင်းတော်မူသောအရှင်မြတ်၏ အမိန့်တော်ကို နာခံစေမည်။ စင်စစ် ယင်းပထဝီမြေသည် ယင်းသို့ နာခံရန်သာ ထိုက်တန်ပေသည်။

يٰۤاَيُّهَا الۡاِنۡسَانُ اِنَّكَ كَادِحٌ اِلٰى رَبِّكَ كَدۡحًا فَمُلٰقِيۡهِ ۝٦

၆။ အို-လူသား၊ ဧကန်စင်စစ် အသင်သည် မိမိအရှင်မြတ်အထံတော်သို့ ရောက်ရှိသည့်တိုင်အောင် (သေသည့်တိုင်အောင်) ပင်ပန်းကြီးစွာ ကြိုးပမ်းဆောင်ရွက်ရပေမည်။ ထို့နောက် (အသင်သည်) ယင်းကြိုးပမ်းမှု(၏ အကျိုးကို) တွေ့ရှိရပေမည်။ [၁]

فَاَمَّا مَنۡ اُوۡتِىَ كِتٰبَهٗ بِيَمِيۡنِهٖ ۝٧

၇။ မည်သို့ပင်ဖြစ်စေ ထိုအခါ မိမိမှတ်တမ်းကို မိမိလက်ယာဘက်လက်ထဲ၌ပေးခြင်းကို ခံရသောသူသည်-

فَسَوۡفَ يُحَاسَبُ حِسَابًا يَّسِيۡرًا ۝٨

၈။ ထိုသူသည် လွယ်ကူသော စစ်ဆေးမှုကို စစ်ဆေးခြင်း ခံရပေမည်။

وَّيَنۡقَلِبُ اِلٰٓى اَهۡلِهٖ مَسۡرُوۡرًا ۝٩

၉။ ၎င်းပြင် ထိုသူသည် မိမိ အိမ်သူအိမ်သား အပေါင်းအဖော်တို့ထံမှ ဝမ်းမြောက်စွာ ပြန်လာပေမည်။

وَاَمَّا مَنۡ اُوۡتِىَ كِتٰبَهٗ وَرَآءَ ظَهۡرِهٖ ۝١٠

၁၀။ သို့ရာတွင် မည်သို့ပင်ဖြစ်စေ၊ မိမိမှတ်တမ်းကို မိမိနောက်ကျောဘက်မှပေးခြင်းကို ခံရသောသူသည်-

---

၁ **လူတိုင်းသည် မိမိတို့ကြိုးပမ်းခဲ့သည်များကို ခံစံရမည်သာ။**

လူတိုင်းသည် မိမိ၏အရှင်သခင်ထံ မရောက်သေးမီ၊ တစ်နည်း မသေမီ အစွမ်းရှိသမျှ ကြိုးပမ်းအားထုတ်သည်သာဖြစ်ပေသည်။ အချို့သည် မိမိ၏အရှင်သခင် နှစ်သက်တော်မူသော အလုပ်များကို လုပ်ဆောင်သည်။ အချို့သည် မိမိ၏ အရှင်သခင် မနှစ်သက်တော်မူသော အလုပ်များကို လုပ်ဆောင်သည်။ အချို့သည် မိမိအရှင်သခင်၏ အမိန့်တော်များကို နာခံသည်။ အချို့သည် သွေဖည်သည်။ လူတိုင်းသည် ကောင်းမှုကို လုပ်သည်ဖြစ်စေ၊ မကောင်းမှုကို လုပ်သည်ဖြစ်စေ နောက်ဆုံးတွင် မိမိ၏ အရှင်သခင်ထံသို့ ရောက်ရှိလာရပေမည်။ မိမိဆည်းပူးခဲ့သည်များကို ကောင်းမှုဖြစ်ပါက စံရပေမည်၊ မကောင်းမှုဖြစ်ပါက ခံရပေမည်။ ဤကား မည်သူတစ်ဦးတစ်ယောက်မျှ မကွေကွင်းနိုင်သော လမ်းကြောင်းတည်း။

فَسَوْفَ يَدْعُوا ثُبُورًا ﴿١١﴾

၁၁။ အမှန်ပင် ထိုသူသည် သေခြင်းတရားကို ဟစ်ခေါ်ပေမည်။

وَيَصْلَىٰ سَعِيرًا ﴿١٢﴾

၁၂။ ၎င်းပြင် ထိုသူသည် (ဂျဟန္နမ်ငရဲ၏) မီးတောက်မီးလျှံထဲသို့ ဝင်ရပေမည်။

إِنَّهُ كَانَ فِي أَهْلِهِ مَسْرُورًا ﴿١٣﴾

၁၃။ ကေန်စင်စစ် ထိုသူသည် မိမိအိမ်သူအိမ်သားအပေါင်းအဖော်တို့၌ ပျော်ရွှင်စွာရှိခဲ့ပေသည်။ [၁]

إِنَّهُ ظَنَّ أَن لَّن يَحُورَ ﴿١٤﴾

၁၄။ ကေန်စင်စစ် ၎င်းသည် (မိမိအရှင်မြတ်အထံတော်သို့) အလျင်းပြန်သွားရမည် မဟုတ်ဟု ထင်မှတ်ခဲ့ပေသည်။

---

**(၁) ရှေ့မှ မှတ်တမ်းပေးခံရသူများနှင့် နောက်ကျောဘက်မှ မှတ်တမ်းအပေးခံရသူများ။**

ကိယာမတ်နေ့တွင် ကောင်းကင်တမန်များသည် လူသားတို့အား ၎င်းတို့၏ မှတ်တမ်းများကို ပေးအပ်ကြမည်။ သို့ပေးအပ်ရာတွင် အချို့တို့အား ရှေ့ဘက်မှ လက်ယာလက်တွင်ပေးအပ်ကြမည်။ အချို့တို့အား နောက်ကျောဘက်မှ လက်ဝဲလက်တွင် ပေးအပ်ကြမည်။ ရှေ့ဘက်မှ လက်ယာလက်တွင် မှတ်တမ်းပေးအပ်ခြင်း ခံရသူများသည် စာရင်းအင်း စစ်ကြောမေးမြန်းရာ၌ လွယ်ကူကြမည်၊ သက်သာကြမည်။ မိမိတို့၏ အိမ်သူအိမ်သား အပေါင်းအဖော်များထံ ပျော်ရွှင်စွာ ပြန်နိုင်ကြမည်။

နောက်ကျောဘက်မှ လက်ဝဲလက်တွင် မှတ်တမ်းပေးအပ်ခြင်း ခံရသူများသည် ငရဲမလားရလေအောင် သေခြင်းတရားကို ဟစ်ခေါ်တမ်းတကြမည်။ သို့တစေလည်း ငရဲသို့ လားကြရမည်သာ ဖြစ်သည်။

သက်ဆိုင်ရာမှတ်တမ်းများကို ရှေ့ဘက်မှ လက်ယာဘက်တွင် ပေးအပ်ခြင်းမှာ ပေးရိုးပေးစဉ်ဖြစ်သည်သာမက သက်ဆိုင်ရာပုဂ္ဂိုလ်အား လေးစားခြင်းဖြစ်သည်။ နောက်ကျောဘက်မှ လက်ဝဲလက်တွင် ပေးအပ်ခြင်းမှာ ပေးရိုးပေးစဉ် မဟုတ်သည်သာမက သက်ဆိုင်ရာ ပုဂ္ဂိုလ်အား မလေးစားခြင်း၊ ၎င်း၏မျက်နှာကို မမြင်လိုခြင်းကြောင့်ဖြစ်သည်။ သို့တည်းမဟုတ် နောက်ကျောဘက်မှ မှတ်တမ်းအပေးခံရသော သူများသည် လက်ပြန်တုပ်နှောင်ထားခြင်း ခံနေရခြင်းကြောင့် ဖြစ်ပေမည်။

နောက်ကျောဘက်မှ လက်ဝဲလက်တွင် မှတ်တမ်းပေးခြင်း ခံရသော ပုဂ္ဂိုလ်များသည် လူ့လောကတွင် ရှိခဲ့ကြစဉ်က မိမိတို့၏ အိမ်သူအိမ်သား အပေါင်းအဖော်များနှင့်အတူ ပျော်ရွှင်စွာ ရှိခဲ့ကြပေသည်။ နောင်တမလွန်အရေးကို မေ့မှား၍မျှ မတွေးခဲ့ကြပေ။ ထိုသို့သောသူများသည် နောင်တမလွန်ဘဝတွင် အတိုင်းမရှိသော ဆင်းရဲဒုက္ခနှင့် ရင်ဆိုင်ကြရပေမည်။ လူ့လောကတွင် ရှိခဲ့စဉ် နောင်တမလွန်အရေးအတွက် စိတ်မအေးနိုင်ခဲ့ကြသော သူတို့မှုကား နောင်တမလွန်ဘဝတွင် ပူပင်သောကကင်းကာ ပျော်ရွှင်စွာ ရှိကြပေမည်။ အချုပ်အားဖြင့် ကာဖိရ်များသည် လူ့လောတွင် ပျော်ရွှင်နိုင်ခဲ့ကြသည်။ မုအ်မင်န်များသည် နောင်တမလွန်ဘဝတွင် ပျော်ရွှင်စွာ ရှိကြမည်။

بَلَىٰٓ ۚ إِنَّ رَبَّهُۥ كَانَ بِهِۦ بَصِيرًا ﴿١٥﴾

၁၅။ အဘယ်မှာလျှင် မဟုတ်ပါသနည်း၊ စင်စစ်မလွဲ ၎င်း၏အရှင်မြတ်သည် ၎င်းအား ကောင်းစွာ ရှုမြင်လျက်ပင် ရှိတော်မူပေသတည်း။ [၁]

فَلَآ أُقْسِمُ بِٱلشَّفَقِ ﴿١٦﴾

၁၆။ သို့ဖြစ်ပေရာ ငါအရှင်မြတ်သည် နေဝင်ဆည်းဆာ (နေဝင်ပြီးနောက်ကျန်ရှိသော) ရောင်နီကို သက်သေထူတော်မူ၏။

وَٱلَّيْلِ وَمَا وَسَقَ ﴿١٧﴾

၁၇။ ထို့ပြင် (ငါအရှင်မြတ်)သည် ညဉ့်ကိုလည်းကောင်း၊ ထိုညဉ့်က ဖုံးလွှမ်းသောအရာများကိုလည်းကောင်း၊ (သက်သေထူတော်မူ၏)။

---

(၁) **အထင်နှင့်အမြင် လွဲမှားချေပြီ။**

ကာဖိရ်က ၎င်းသည် အလ္လာဟ်အရှင်မြတ်ထံသို့ ပြန်လည်သွားရမည် မဟုတ်ဟု ထင်မှတ်ခဲ့သည်။ ဤသို့ကား အသို့လျှင် ဖြစ်နိုင်အံ့နည်း။ အလ္လာဟ်အရှင်မြတ်သည် ၎င်းအား စတင်ဖန်ဆင်းတော်မူသည့်အချိန်မှ သေဆုံးသည်အထိ ခရေစေ့တွင်းကျ ရှုမြင်လျက် ရှိတော်မူသည်။ ၎င်း၏အသက် အဘယ်မှလာသည်၊ ၎င်း၏ ကိုယ်ခန္ဓာသည် အဘယ်အရာများမှ ဖြစ်ပေါ်လာသည်၊ ၎င်းသည် မည်သို့သော ယုံကြည်ချက်ထားသည်၊ အသို့ကျင့်မူ နေထိုင်သည်၊ ၎င်း၏စိတ်တွင် မည်သို့သောအကြံအစည်ရှိသည်၊ နှုတ်မှ အသို့ဆိုသည်၊ ခြေလက်တို့ဖြင့် အဘယ်အရာများကို ဆည်းပူးသည်၊ သေပြီးနောက် ၎င်း၏ အသက်သည် အဘယ်သို့ရောက်သည်၊ ၎င်း၏ ကိုယ်ခန္ဓာပျက်စီး၍ ခန္ဓာအစိတ်အပိုင်းများသည် အသို့ ပျံ့နှံ့လျက်ရှိသည် စသည်တို့ကို စ,လယ်,ဆုံး အကြွင်းမဲ့ သိမြင်တော်မူသည်။

ယင်းသို့ အကြွင်းမဲ့ သိမြင်နေတော်မူသော အရှင်သည် ယင်းကာဖိရ်အား အသို့လျှင် အချည်းနှီး လျစ်လျူရှု ထားတော်မူအံ့နည်း။ ထိုအရှင်မြတ်သည် ၎င်းအား၊ ၎င်း၏ အပြုအမူ အကျင့်အကြံ များနှင့်စပ်လျဉ်း၍ ကျိုးပြစ်ပေးတော်မူမည်သာတည်း။ ကာဖိရ်ကား အထင်နှင့်အမြင် လွဲမှားချေပြီ။

**ဟဒီဿတော်တစ်ပါး။**

တမန်တော်မြတ်က (အလ္လာဟ်အရှင်မြတ်သည် တမန်တော်မြတ်အပေါ်သို့ ကောင်းချီးချမ်းသာ မင်္ဂလာ အဖြာဖြာ ပို့တော်မူသည်ဖြစ်ပါစေ။) မိန့်ကြားတော်မူခဲ့သည်မှာ "ကောင်းကင်တမန် ဂျိဗ်ရီလ်က အို-မုဟမ္မဒ်၊ အသင်အလိုရှိသမျှ အသက်ရှင်၍နေပါလေ၊ သို့ရာတွင် အသင်သည် သေရမည်သာ။ အသင် အလိုရှိသည်ကို နှစ်ခြိုက်ပါလေ၊ သို့ရာတွင် အသင်သည် ထိုအရာကို ခွဲခွာထားခဲ့ရမည်သာ။ အသင်အလိုရှိသမျှ ပြုမူဆည်းပူးပါလေ၊ ထိုအရာကို မုချတွေ့ရမည်သာ"ဟု ပြောကြားခဲ့လေသည်။ အိဗ်နုကဆီရ်၊ အ-၄၊ စ-၄၈၈။

| | |
|---|---|
| ၁၈။ ၎င်းပြင် (ငါအရှင်မြတ်သည်) လစန္ဒာကို (သက်သေထူတော်မူ၏)။ အကြင်အခါ၀ယ် ထိုလစန္ဒာသည် ပြည့်ဝန်းလေသည်။ ၁ | وَالْقَمَرِ إِذَا اتَّسَقَ ﴿١٨﴾ |
| ၁၉။ အမှန်ပင် အသင်တို့သည် တဆင့်မှတဆင့်သို့ တက်ကြရပေမည်။ | لَتَرْكَبُنَّ طَبَقًا عَن طَبَقٍ ﴿١٩﴾ |
| ၂၀။ သို့ပါလျက် ၎င်းတို့သည် မည်သည့်အကြောင်းကြောင့် မယုံကြည်ကြပါသနည်း။ | فَمَا لَهُمْ لَا يُؤْمِنُونَ ﴿٢٠﴾ |
| ၂၁။ ထိုမှတပါး ၎င်းတို့ရှေ့၌ ကုရ်အာန်ကျမ်းတော်မြတ် ဖတ်ကြားသောအခါ၀ယ် ၎င်းတို့သည် (မည်သည့်အကြောင်းကြောင့်) ပျပ်ဝပ်ဦးချခြင်း မပြုကြသနည်း။ | وَإِذَا قُرِئَ عَلَيْهِمُ الْقُرْآنُ لَا يَسْجُدُونَ ۩ ﴿٢١﴾ |
| ၂၂။ ထိုမျှမကသေးပေ၊ စင်စစ်မှာမူကား ကာဖိရ်သွေဖည်ငြင်းပယ်သော သူတို့သည် ("ကိယာမတ်" အကြောင်းကို ရှင်းလင်းပြသော ထိုကုရ်အာန်ကျမ်းတော်မြတ်ကို) မဟုတ်မမှန်ဟူ၍ပင် ငြင်းပယ်ကြကုန်၏။ | بَلِ الَّذِينَ كَفَرُوا يُكَذِّبُونَ ﴿٢٢﴾ |
| ၂၃။ စင်စစ်သော်ကား အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့လျှို့ဝှက်မျိုသိပ်၍ ထားရှိကြသည်ကို ကောင်းစွာသိရှိတော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူ၏။ | وَاللَّهُ أَعْلَمُ بِمَا يُوعُونَ ﴿٢٣﴾ |

---

(၁) လူသားတို့သည် လူ့သက်တမ်းတွင် ဘဝအခြေအနေအမျိုးမျိုးတို့ကို အဆင့်ဆင့်ကျော်လွန်၍ နောက်ဆုံးတွင် သေဆုံးကြရ၏။ ထို့နောက် "အာလမ်မေဗရ်ဇခ်"သို့ ရောက်ရှိကြရ၏။ ထို့နောက် ကိယာမတ်သို့ ရောက်ရှိကြရ၏။ ထို့နောက် ကိယာမတ်တွင်လည်း ဘဝအခြေအနေအမျိုးမျိုးကို အတိုင်းမသိ ကျော်လွန်ကြရဦးမည်ဖြစ်၏။

ဥပမာ ညဥ့်၏အစတွင် ဆည်းဆာရောင်နီ ကျန်ရှိနေပေသေးသည်အထိ လင်းရောင်မှာ တစ်မျိုးဖြစ်၏။ ထို့နောက် ရောင်နီပျောက်ကွယ်သွားသည့်အခါ ညဥ့်၏အမှောင်ပေါ်လာ၏။ အရာခပ်သိမ်း တို့ကို ဖုံးလွှမ်းလိုက်၏။

ညဥ့်အချိန်တွင် လလည်းထွက်၏။ လသည် ငယ်ရာမှ ကြီးလာ၏။ နောက်ဆုံးတွင် လသည် လုံးဝပြည့်ဝန်းလာ၏။ တစ်ညဥ့်လုံး လသာလျက်ရှိ၏။

ထို့အတူ လူသားတို့၏ ဘဝအခြေအနေများသည်လည်း ညဥ့်၏ ဘဝအခြေအနေများနှင့်တူ၏။ ဤသည့်သဘောကို ဤအာယတ်တော်တွင် ရည်ညွှန်းမိန့်ဆိုထားတော်မူသည်။

فَبَشِّرْهُمْ بِعَذَابٍ أَلِيمٍ ﴿٢٤﴾

၂၄။ သို့ဖြစ်ပေရာ (အို-နဗီတမန်တော်၊) အသင်သည် ၎င်းတို့အား ပြင်းပြနာကျင်ဖွယ်သော ပြစ်ဒဏ်နှင့်စပ်လျဉ်း၍ သတင်းကောင်း ပြောကြားပါလေ။

إِلَّا الَّذِينَ آمَنُوا وَعَمِلُوا الصَّالِحَاتِ لَهُمْ أَجْرٌ غَيْرُ مَمْنُونٍ ﴿٢٥﴾

၂၅။ သို့ရာတွင် "အီမာန်" သက်ဝင်ယုံကြည်၍ ကောင်းမြတ်သော အကျင့်သီလများကို ကျင့်မှုဆောက်တည်ကြကုန်သောသူတို့အဖို့မှာမူကား အဆုံးမရှိသော အကျိုးကျေးဇူးသည် ရှိပေသတည်း။ ၁

---

(၁) **နာခံသော မွတ်စ်လင်မ်နှင့် သွေဖည်သော ကာဖိရ်၏ အကျိုးဆက်ကား အသို့လျှင် တူနိုင်အံ့နည်း။**

အထက်တွင် ပါရှိသည့်အတိုင်း အီမာန် ယုံကြည်ဖွယ်ရာအချက်များ၊ စိုးရိမ်ဖွယ်ရာအချက်များ ရှိနေပါလျက် ကာဖိရ်များသည် မစဉ်းစား မဆင်ခြင်ကြပေ၊ မယုံကြည်ကြပေ။ အကယ်၍ ၎င်းတို့၏ အသိဉာဏ်သည် ထိုသည့်အချက်များကို ထွင်းဖောက်သိမြင်နိုင်ပါက ၎င်းတို့သည် ကုရ်အာန်ကျမ်းလာ တရားတော်များကို ကြားနာ၍ အကျိုးခံစားနိုင်ကြပေမည်။

ယခုမူ ၎င်းတို့သည် ကုရ်အာန်ကျမ်းလာတရားတော်များကို ကြားနာကြရပါလျက်လည်း နူးညံ့သိမ်မွေ့မလာကြပေ၊ ကျိုးနွံမလာကြပေ၊ မွတ်စ်လင်မ်များသည် ကုရ်အာန်ကျမ်းလာ တရားတော်များကို ကြားနာကြသည့်အခါ အလ္လာဟ်အရှင်မြတ်အား ပျပ်ဝပ်ဦးချကြပေသည်။ ကာဖိရ်များကား ထိုသို့ မဟုတ်ကြပေ။ ထို့ပြင်တဝ ၎င်းတို့သည် ကုရ်အာန်ကျမ်းလာ တရားတော်များကို မုသာဝါဒ စကားများသာ ဖြစ်သည်ဟူ၍ပင် နှုတ်မှဖွင့်ဟ ပြောဆိုကြသည်။

ထိုမျှမက ၎င်းတို့သည် မိမိတို့၏ စိတ်နှလုံးများတွင် သွေဖည်ဆန့်ကျင်မှု၊ မလိုမုန်းတီးမှု၊ အမုန်တရားနှင့်ရန်ပြုလိုမှုများတွင် သွေဖည်ဆန့်ကျင်မှု၊ မလိုမုန်းတီးမှု၊ အမုန်တရားနှင့် ရန်ပြုလိုမှုများကို မျိုသိပ်ထားကြသေးသည်။ ဤသည်တို့ကို အလ္လာဟ်အရှင်မြတ်သည် အကြွင်းမဲ့သိတော်မူသည်။ သို့ဖြစ်ပေရာ ယင်းသို့သော ကာဖိရ်များသည် မိမိတို့၏ မယုံကြည်မှု၊ မနာခံမှု၊ သွေဖည်မှု၊ မလိုမုန်းတီးမှု၊ အမုန်တရားကို ရန်ပြုလိုမှုများကြောင့် အလွန်ပြင်းပြသော ပြစ်ဒဏ်ခံကြရမည်သာတည်း။

မုအ်မင်န်တို့မူကား မိမိတို့၏ ယုံကြည်မှု၊ နာခံမှု၊ ကျိုးနွံမှု၊ ကောင်းမြတ်သော အကျင့်သီလ ဆောက်တည်မှုများကြောင့် အဆုံးမရှိသော ကောင်းကျိုးချမ်းသာ အဖြာဖြာကို ထာဝစဉ် ခံစားကြရမည်သာတည်း။

နာခံသော မွတ်စ်လင်မ်များနှင့် သွေဖည်သော ကာဖိရ်၏ အကျိုးဆက်ခြင်းကား အသို့လျှင် တူနိုင်အံ့နည်း။

# ဒွါဒ ရာသီစက် ကဏ္ဍ

سُوْرَةُ الْبُرُوْجِ

ဤကဏ္ဍသည် 'ဗုရူဂျ်' ဒွါဒ ရာသီစက်အကြောင်း ပါဝင်သောကဏ္ဍမည်၏။
ဤကဏ္ဍသည် မက္ကာမြို့တော်၌ကျရောက်ခဲ့၏။
ဤကဏ္ဍတွင် အာယတ်တော် (၂၂)ပါး ပါရှိ၏။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ

မပြတ်မစဲ သနားကြင်နာ ညှာတာတော်မူသော၊
မဟာကရုဏာတော်ရှင်ဖြစ်တော်မူသော၊
အလ္လာဟ်အရှင်မြတ်၏နာမံတော်ဖြင့် အစပြုပါ၏။

وَالسَّمَآءِ ذَاتِ الْبُرُوْجِ ①

၁။ (ငါအရှင်မြတ်သည်) ဒွါဒရာသီ (ဆယ့်နှစ်ရာသီ)အသံ်ာစက်ရှိသော မိုးကောင်းကင်ကို သက်သေထူတော်မူ၏။ [1]

---

① "ဗုရူဂျ်"

"ဗုရူဂျ်" သည် "ဗူရ်ဂျ်"၏ ဗဟုဝုစ်ကိန်းဖြစ်သည်။ "ဗုရူဂျ်"ဟူသည် တစ်နှစ်ကာလအတွင်း နေ့လှည့်ပတ် သွားလာရာ ဒွါဒရာသီစက်ကိုလည်း ဆိုနိုင်သည်။ ကောင်းကင်တမန်များ စောင့်ရှောက်နေသော ကောင်းကင်ရဲတိုက်များကိုလည်း ဆိုနိုင်သည်။ ကောင်းကင်တွင် တွေ့မြင်နေရသော ကြယ်တာရာကြီးများကိုလည်း ဆိုနိုင်သည်။

**'ကစမ်' ကျိန်ဆိုခြင်း၊ သက်သေထူခြင်း၊**

လူတို့သည် အမျိုးမျိုး ကျိန်ဆိုလေ့ ရှိကြသည်။ သက်သေထူလေ့ ရှိကြသည်။ သို့ကျိန်ဆို သက်သေထူရာတွင် အချို့သည် မိမိတို့ဆည်းကပ် ကိုးကွယ်ရာကိုသော်လည်းကောင်း၊ ရိုသေလေးစားအပ်သော ပုဂ္ဂိုလ်ကိုသော်လည်းကောင်း၊ ထူးဆန်းအံ့ဖွယ်ရာကိုသော် လည်းကောင်း၊ ချစ်မြတ်နိုးသော အရာကိုသော်လည်းကောင်း၊ ထူးကဲသောအရာကိုသော်လည်းကောင်း၊ ကျိန်ဆိုလေ့၊ သက်သေထူလေ့၊ တိုင်တည်လေ့ရှိကြသည်။

ထို့ပြင်တဝ စာပေအကျော်အမော်တို့သည် ကျိန်ဆိုသောပစ္စည်းနှင့် ကျိန်ဆိုသည့်အကြောင်းတွင် တစ်နည်းတစ်ဖုံ ဆက်စပ်မှုကို ထောက်ထားလေ့ရှိကြသည်။ ကျိန်ဆိုသောပစ္စည်းသည် ကျိန်ဆိုသည့် အကြောင်းအဖို့ အမြဲတစေ သက်သေဖြစ်ရကောင်းစေ ဟူ၍ကား မဟုတ်ပေ။

အစ္စလာမ်၏ ရှရီအတ်တွင် အလ္လာဟ်အရှင်မြတ်မှတပါး အခြားသောပုဂ္ဂိုလ်၊ အရာဝတ္ထုပစ္စည်းများကို ကျိန်ဆို သက်သေထူခြင်းသည် လူသားတို့အဖို့ ဟရာမ်ဖြစ်သည်၊ ပိတ်ပင်တားမြစ်ထားသည်။ အလ္လာဟ်အရှင်မြတ်မှာကား လူသားတို့နှင့် မတူချေ။ အလ္လာဟ်အရှင်မြတ်သည် များသောအားဖြင့် မိမိထံတော်တွင် ချစ်မြတ်နိုးဖွယ်သော၊ အကျိုးဖြစ်ထွန်းစေသော၊ လေးနက်သော၊ ထူးကဲသောအရာများ၊ ကျိန်ဆိုထားတော်မူသည့်အကြောင်းနှင့် စပ်လျဉ်း၍ သက်သေဖြစ်နိုင်သောအရာများကို ကျိန်ဆို သက်သေထူတော်မူလေ့ရှိပေသည်။

وَالْيَوْمِ الْمَوْعُودِ ﴿٢﴾

၂။ ၎င်းပြင် ချိန်းချက်ပြီးဖြစ်သောနေ့ကို သက်သေထူတော်မူ၏။

وَشَاهِدٍ وَّمَشْهُودٍ ﴿٣﴾

၃။ ထို့ပြင် အသင့်ရောက်ရှိသောနေ့ကိုလည်းကောင်း၊ အသင့်ရောက်ရှိကြရမည့်နေ့ကိုလည်းကောင်း၊ သက်သေထူတော်မူ၏။ [၁]

قُتِلَ اَصْحٰبُ الْاُخْدُوْدِ ﴿٤﴾

၄။ ကျင်းရှင်(တွင်းရှင်) ကျုံးတို့သည် ပျက်စီးခဲ့ကြရလေသည်။

النَّارِ ذَاتِ الْوَقُوْدِ ﴿٥﴾

၅။ ထင်းများစွာ (လောင်စာများစွာ)ရှိသော မီးရှင်တို့သည်။ [၂]

---

(၁) **"ရှာဟိဒ်"၊ "မရှ်ဟူဒ်"။**

"ရှာဟိဒ်" နှင့် "မရှ်ဟူဒ်" ဟူသော ပုဒ်များကို အနက်ဖွင့်ရာတွင် အဆိုအမျိုးမျိုး တွေ့ရှိရသည်။ ထိုအဆိုများအနက် အကျော်ကြားဆုံး အဆိုမှာအောက်ပါအတိုင်းဖြစ်သည်။

(၁) အချို့က "ရှာဟိဒ်" ဟူသည် သောကြာနေ့ကို ဆိုလိုသည်၊ "မရှ်ဟူဒ်" ဟူသည် 'အရဖဟ်' နေ့ကို ဆိုလိုသည်။

အဘယ်ကြောင့်ဆိုသော် သောကြာနေ့တွင် လူများသည် ကိုယ့်အရပ်ဌာနမှာပင် နေထိုင်ကြသည်။ သောကြာနေ့သည် မိမိကိုယ်တိုင် အမြို့မြို့သို့ ရောက်ရှိလာသည်။ ထို့အတွက် သောကြာနေ့ကို 'ရှာဟိဒ်' (ဝါ) ရောက်ရှိလာသောနေ့ဟု ဖွင့်ဆိုခြင်း ဖြစ်တန်ရာသည်။

အရဖဟ်နေ့တွင် ဟာဂျီများသည် မိမိတို့၏ အရပ်ဌာနအသီးသီးမှ ခရီးထွက်၍ အရဖဟ်နေ့ကို ရည်စူးကာ 'အရဖာတ်' ကွင်းပြင်သို့ ရောက်ရှိလာကြသည်။ ထို့အတွက် အရဖဟ်နေ့ကို မရှ်ဟူဒ် (ဝါ) ရောက်ရှိရသောနေ့ဟု ဖွင့်ဆိုခြင်း ဖြစ်တန်ရာသည်။ ကြည့်-ထာနဝီ၊ အွတ်ဆ်မာနီ၊ အိဗ်နုဂျရီရ်၊ အိဗ်နုကဆီရ်။

(၂) **"အတ်ဆွ်ဟာဗုလ် အခ်ဒူဒ်"၊ ကျင်းတူး၍ မီးတိုက်သူများ**

အတိတ်ခေတ်တွင် အလ္လာဟ်အရှင်မြတ်အား အီမာန် သက်ဝင်ယုံကြည်သူများအား ကျင်းကြီးကျင်းငယ်များတူး၍ မီးအကြီးအကျယ် တောက်လောင်စေပြီး မီးတိုက်ခဲ့သည့် ရင်နင့်ဖွယ်ရာ ဖြစ်ရပ်တစ်ခု ပေါ်ပေါက်ခဲ့သည်။ ထိုသို့ အီမာန်သက်ဝင်ယုံကြည်သူများအား ရက်ရက်စက်စက် မီးတိုက်ခဲ့သူများကား မည်သူများနည်း။ ဤအကြောင်းနှင့်စပ်လျဉ်း၍ အဆိုအမျိုးမျိုးကို တွေ့ရှိရသည်။ ဤတွင် မွတ်စ်လင်မ်၊ တိရ်မိဇီ၊ မွတ်စ်နစ်မ် အဟ်မဒ်၊ အိဗ်နုကဆီရ်စသည့် ကျမ်းကြီးများတွင် ဖော်ပြပါရှိသည့် အောက်ပါဖြစ်ရပ်ကို ရေးသားဖော်ပြအပ်ပါသည်။

အတိတ်ခေတ်တွင် ဘုရင်တစ်ပါးရှိခဲ့သည်။ ထိုဘုရင်ထံတွင် မှော်ဆရာတစ်ယောက် ရှိခဲ့သည်။ မှော်ဆရာသည် အသက်အရွယ်ကြီးပြင်း၍ အိုမင်းရင့်ရော်လာသည့်အခါ ဘုရင့်အား "ကျွန်တော်မျိုးသည် အိုမင်းရင့်ရော်လာပါပြီ၊ သေဆုံးရမည့်အချိန်မှာလည်း နီးကပ်လာပါပြီ၊ ထို့အတွက် မိမိ၏ စုန်းမှော်အတတ်ကို➤➤

➢➢ သင်ကြားပြသထားနိုင်ခဲ့ရန်အတွက် ကျွန်တော်မျိုးထံ လူငယ်တစ်ဦးကို စေလွှတ်ပေးတော်မူပါ"ဟု လျှောက်ထားရာ၊ ဘုရင်သည် ထိုမှော်ဆရာထံသို့ လူငယ်တစ်ယောက်ကို စေလွှတ်ပေးခဲ့လေသည်။

မှော်ဆရာသည် ထိုလူငယ်အား မိမိ၏စုန်းမှော်အတတ်ပညာများကို သင်ကြားပြသ၍ နေခဲ့၏။ အကြောင်းအားလျော်စွာ ထိုမှော်ဆရာ(၏နေအိမ်)နှင့် ဘုရင်(၏နန်းတော်)စပ်ကြားတွင် (လမ်း၌) နဆ်ရာနီ ဘုန်းကြီးတစ်ပါး နေထိုင်လျက်ရှိခဲ့၏။ လူငယ်သည် နဆ်ရာနီဘုန်းကြီးထံသို့လည်း (လမ်းကြုံသဖြင့်) ဝင်ထွက် သွားလာနေခဲ့၏။ နဆ်ရာနီဘုန်းကြီး၏ တရားစကားများကိုလည်း ကြားနာမှတ်သားနေခဲ့၏။ နှစ်သက်မြတ်နိုး ခဲ့၏။ (သို့ နဆ်ရာနီဘုန်းကြီးထံ ဝင်ထွက် သွားလာနေခဲ့သည့်အတွက် တစ်ခါတစ်ရံ အချိန်ကြန့်ကြာ သွားလေ့ရှိခဲ့၏။ အချိန်ကြန့်ကြာ၍) မှော်ဆရာထံရောက်သည့်အခါ မှော်ဆရာက အသင် အဘယ်ကြောင့် ကြန့်ကြာရသနည်းဟု မေး၍ရိုက်၏။ ထို့အတူ (အိမ်သို့ပြန်ရာတွင် ကြန့်ကြာသည့်အခါ) အိမ်သားများကလည်း အသင် အဘယ်ကြောင့် ကြန့်ကြာသနည်းဟု မေး၍ရိုက်ကြ၏။ လူငယ်သည် ဤသို့ အရိုက်ခံနေရသည့်အကြောင်း နဆ်ရာနီဘုန်းကြီးအား တိုင်ကြားရာ နဆ်ရာနီဘုန်းကြီးက အသင့်အား မှော်ဆရာက ရိုက်မည်ပြုသည့်အခါ "ကျွန်တော်၏ အိမ်သားများက တားထား၍ ကြန့်ကြာရပါသည်" အိမ်သူအိမ်သားများက ရိုက်မည်ပြုကြသည့်အခါ "မှော်ဆရာက တားထား၍ ကြန့်ကြာရပါသည်" ဟု ဖြေဆိုရန် သင်ပေးလေသည်။

တစ်နေ့သောအခါ အလွန်ကြီးမား ကြောက်မက်ဖွယ်ကောင်းသော တိရစ္ဆာန်ကြီးတစ်ကောင်သည် လမ်းတွင် လူများအား ပိတ်ဆို့ဟန့်တားထားသည်ကို တွေ့မြင်ရလေသည်။ လူများသည်လည်း အသွားအလာ ပိတ်နေသည့်အတွက် စိတ်ပျက်နေခဲ့ကြသည်။ ထိုအခြင်းအရာကို တွေ့မြင်ရသောအခါ လူငယ်က ယနေ့ အလ္လာဟ်အရှင်မြတ်ထံတော်၌ နဆ်ရာနီဘုန်းကြီး၏ လမ်းစဉ်မှန်သည်၊ နှစ်သက်ဖွယ်ရာဖြစ်သည်။ သို့မဟုတ် မှော်ဆရာ၏ လမ်းစဉ်မှန်သည် နှစ်သက်ဖွယ်ရာဖြစ်သည်ကို ကျွန်ုပ် သိရတော့မည်ဟုဆိုကာ ကျောက်ခဲတစ်လုံးကို ကောက်ပြီး "အို-အလ္လာဟ်အရှင်မြတ်၊ အရှင်မြတ်ထံတော်၌ အကယ်၍ နဆ်ရာနီဘုန်းကြီး၏ လမ်းစဉ်သည် မှော်ဆရာ၏လမ်းစဉ်ထက် မှန်ကန်ပါသော်၊ နှစ်သက်ဖွယ်ရာဖြစ်ပါသော်၊ လူအများ သွားလာနိုင်ရန်အလို့ငှာ ဤတိရစ္ဆာန်ကို ဤကျောက်ခဲဖြင့် ကွပ်မျက်တော်မူပါ"ဟု အမိန့်ခံ၍ပြုကာ အဆိုပါ တိရစ္ဆာန်ကြီးကိုပစ်ပေါက်ရာ အဆိုပါတိရစ္ဆာန်ကြီးသည် ထိမှန်သေကြေ ပျက်စီးသွားခဲ့လေသည်။

လူငယ်သည် ယင်းသည့်အဖြစ်အပျက်ကို နဆ်ရာနီဘုန်းကြီးအား ပြောပြလေသည်။ ထိုအခါ နဆ်ရာနီဘုန်းကြီးက လူငယ်အား "အသင်သည် ကျွန်ုပ်ထက်သာသည်၊ အသင်သည် မကြာမီ စမ်းသပ်ခြင်း ခံရလိမ့်မည်၊ သို့အသင် စမ်းသပ်ခြင်းခံရသည့်အခါ ကျွန်ုပ်အား ညွှန်မပြလေနှင့်"ဟု မှာကြားထားလိုက်လေသည်။

ထို့နောက် လူငယ်သည် (အလ္လာဟ်အရှင်မြတ်၏ကျေးဇူးတော်ဖြင့်) အမိဝမ်းတွင်းမှ စက္ခုအလင်း မရသောသူများ၊ ကုဋ္ဌနူနာစွဲကပ်နေသူများနှင့် အခြားရောဂါသည်အားလုံးတို့ကို ပျောက်ကင်း စေခဲ့လေသည်။ အကြောင်းအားလျော်စွာ ထိုအချိန်မှာပင် ဘုရင့်ထံ၌ ဝင်ထွက်သွားလာနေသော မင်းကျွမ်းဝင် အဆွေတော် တစ်ဦးသည် မျက်စိကွယ်သွားခဲ့လေသည်။ ဘုရင့်အဆွေတော်သည် အဆိုပါ လူငယ်၏ သတင်းကြားသိသောအခါ လူငယ်ထံသို့ လက်ဆောင်ပဏ္ဏာပစ္စည်း အမြောက်အမြား ယူဆောင်လာပြီးလျှင် "ကျွန်ုပ်အား မျက်စိအလင်း ပြန်လည်ရရှိအောင် ပြုလုပ်ပေးပါ"ဟု မေတ္တာရပ်ခံရာ၊ လူငယ်က "ကျွန်ုပ်သည် မိမိအစွမ်းဖြင့် မည်သူတစ်ဦး တစ်ယောက်ကိုမျှ ရောဂါပျောက်ကင်းအောင် ပြုလုပ်ပေးနိုင်သည် မဟုတ်ပါ။ အလ္လာဟ်အရှင်မြတ်သာလျှင် ရောဂါခပ်သိမ်းကို ပျောက်ကင်းစေတော်မူပါသည်။ အကယ်၍ အသင်သည် ထိုအရှင်မြတ်အား အီမာန် သက်ဝင်ယုံကြည်ပါက ကျွန်ုပ်သည် ထိုအရှင်မြတ်အထံတော်၌ (အသင့်အဖို့) ဆုပန်ကြားပေးပါမည်။ ➢➢

➤➤ ထိုအရှင်မြတ်သည် အသင့်အား မျက်စိအလင်း ပြန်လည်ပေးတော်မူပါလိမ့်မည်"ဟု ဖြေကြားလေသည်။ ထိုအခါ ဘုရင့် အဆွေတော်သည် အလ္လာဟ်အရှင်မြတ်အား အီမာန် သက်ဝင်ယုံကြည်လာခဲ့လေသည်။ လူငယ်သည် အလ္လာဟ်အရှင်မြတ်ထံတော်၌ ဆုပန်ကြားလေရာ အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်ဖြင့် ဘုရင့်အဆွေတော်သည် မျက်စိအလင်း ပြန်လည်ရရှိသွားခဲ့လေသည်။

ဘုရင့်အဆွေတော်သည် မျက်စိအလင်းရပြီးနောက် ယခင်အတိုင်း ဘုရင့်ထံ အခစားဝင်သောအခါ ဘုရင်က "အဆွေတော်၊ အသင့်အား မျက်စိအလင်း ပြန်လည်ရရှိအောင် အဘယ်သူပြုလုပ်ပေးပါသနည်း" ဟု မေးရာ အဆွေတော်က "ကျွန်တော်မျိုးအား ကျွန်တော်မျိုး၏အရှင်သခင်က မျက်စိအလင်းကို ပြန်လည်ပေးသနားတော်မူပါသည်"ဟု လျှောက်ထားလေသည်။ ထိုအခါ ဘုရင်က "ငါလော" ဟု မေးရာ၊ အဆွေတော်က "မဟုတ်ပါ" ဟု လျှောက်ထားလေသည်။ ဘုရင်က "အသင်၌ ငါမှတပါး အခြားအရှင်သခင် ရှိပါသေးသလော" ဟု မေးရာ အဆွေတော်က "အမှန်မှာ ကျွန်တော်မျိုး၏အရှင်သခင်နှင့် ဘုရင်မင်းမြတ်၏အရှင်သခင်မှာ အလ္လာဟ်အရှင်မြတ်သာလျှင် ဖြစ်တော်မူပါသည်"ဟု လျှောက်ထားလေသည်။ ထိုအခါ ဘုရင်သည် အဆွေတော်အား အမြဲတစေ ဒဏ္ဍပေးနေရန် အမိန့်ချမှတ်လိုက်လေသည်။ နောက်ဆုံးတွင် အဆွေတော်သည် ဖြစ်ရပ်မှန်ကို လျှောက်ထား၍ လူငယ်အား ညွှန်ပြလိုက်လေသည်။

ဘုရင်သည် လူငယ်အား ဆင့်ခေါ်ပြီးလျှင် "အသင် လုလင်၊ အသင်သည် မိမိ၏ စုန်းပယောဂ အတတ်ဖြင့် မျက်စိအလင်း မရသူများ၊ ကုဋ္ဌနူနာ စွဲကပ်နေသူများနှင့် အခြားရောဂါသည်များကို ပျောက်ကင်းစေနိုင်ကြောင်း ငါသိရသည်"ဟု မေးရာ၊ လူငယ်က "ကျွန်တော်မျိုးသည် မည်သူတစ်ဦးတစ်ယောက်ကိုမျှ မိမိ၏အစွမ်းဖြင့် ရောဂါပျောက်ကင်းစေနိုင်သည် မဟုတ်ပါ၊ အလ္လာဟ်အရှင်မြတ်သာလျှင် ပျောက်ကင်းစေတော်မူနိုင်ပါသည်"ဟု လျှောက်ထားလေသည်။ ဘုရင်က "အသင်၌ ငါမှတပါး အခြားအရှင်သခင် ရှိပါသေးသလော" ဟု မေးရာ၊ လူငယ်က "အမှန်မှာ ကျွန်တော်မျိုး၏အရှင်သခင်မှာ အလ္လာဟ်အရှင်မြတ်သာလျှင် ဖြစ်တော်မူပါသည်" ဟု လျှောက်ထားလေသည်။ ထိုအခါ ဘုရင်သည် လူငယ်အား စတင်ဒဏ္ဍပေးရန် အမိန့်တော်ချမှတ်လိုက်လေသည်။ နောက်ဆုံးတွင် လူငယ်သည် ဖြစ်ရပ်မှန်ကို လျှောက်ထား၍ နဆ်ရာနီ ဘုန်းကြီးအား ညွှန်ပြလိုက်လေသည်။

ဘုရင်သည် ခရစ်ယာန်ဘုန်းကြီးအား ဆင့်ခေါ်ပြီးလျှင် "အသင်သည် မိမိ၏ဘာသာ အယူဝါဒကို စွန့်လွှတ်ပါလေ" ဟု အမိန့်ပေးရာ၊ နဆ်ရာနီဘုန်းကြီးသည် လက်မခံ ငြင်းဆန်လေသည်။ ထိုအခါ ဘုရင်သည် နဆ်ရာနီဘုန်းကြီးအား ဦးခေါင်းပေါ်တွင် လွှတင်၍ တိုက်ဆွဲစေရာ နဆ်ရာနီဘုန်းကြီးသည် ဦးခေါင်း နှစ်ခြမ်း ထက်အက်ကွဲ၍ သေဆုံးသွားခဲ့ရလေသည်။

ထို့နောက် ဘုရင်သည် မျက်စိအလင်း ပြန်လည်ရရှိသွားသော အဆွေတော်အား ဆင့်ခေါ်၍ "အသင်သည် မိမိဘာသာအယူဝါဒကို စွန့်လွှတ်ပါလေ"ဟု အမိန့်ပေးပြန်ရာ၊ အဆွေတော်သည်လည်း မနာခံ ငြင်းဆန်လေသည်။ ထိုအခါ ဘုရင်သည် အဆွေတော်အားလည်း ဦးခေါင်းပေါ်တွင် လွှတင်၍ တိုက်ဆွဲစေရာ အဆွေတော်လည်း ဦးခေါင်းနှစ်ခြမ်းကွဲ၍ သေဆုံးသွားခဲ့ရရာလေသည်။

ထို့နောက်တဖန် ဘုရင်သည် လူငယ်အား ဆင့်ခေါ်ပြီးလျှင် "အသင်သည် မိမိ၏ ဘာသာအယူဝါဒကို စွန့်လွှတ်ပါလေ"ဟု အမိန့်ပေးရာ၊ လူငယ်သည်လည်း အမိန့်မနာခံ ငြင်းဆန်လေသည်။ ထိုအခါ ဘုရင်သည် လူငယ်အား တောင်ထိပ်သို့ ခေါ်ဆောင်စေ၍ တောင်ထိပ်သို့ရောက်သောအခါ လူငယ်သည် မိမိ၏ဘာသာ အယူဝါဒကို မစွန့်လွှတ်ဘဲ အမိန့်မနာခံ ငြင်းဆန်နေပါက လူငယ်အား တောင်ထိပ်မှ တွန်းချကွပ်မျက်ရန် ➤➤

➤➤ အာဏာသားတို့အား စေခိုင်းလိုက်လေသည်။ တောင်ထိပ်သို့ ရောက်ကြသောအခါ လူငယ်က "အို- အလ္လာဟ်အရှင်မြတ်၊ အရှင်မြတ်သည် ကျွန်တော်မျိုးအား မိမိအလိုတော်ရှိတော်မူသည့်အတိုင်း ဤသူများ၏ ဘေးရန်မှ ကာကွယ်တော်မူပါ"ဟု ပန်ကြားရာ၊ တောင်ကြီးသည် လှုပ်ရှားလာ၏။ ထို့နောက် အာဏာသားတို့သည် တောင်ပိ၍ သေကြေပျက်စီးသွားခဲ့ကြလေသည်။ လူငယ်မှာကား အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်ဖြင့် ခလုတ်မထိ ဆူးမငြိဘဲ ကျန်းမာချမ်းသာစွာ ဘုရင့်ထံသို့ ပြန်လည်ရောက်ရှိလာခဲ့ပြီး၊ ဖြစ်ကြောင်းကုန်စင် လျှောက်ထားလေသည်။ ထိုအခါ ဘုရင်သည် လူငယ်အား သင်္ဘောဖြင့် တင်ဆောင်စေပြီး သမုဒ္ဒရာအတွင်းသို့ ရောက်သောအခါ လူငယ်သည် မိမိ၏ဘာသာအယူဝါဒကို မစွန့်လွှတ်ပါက သမုဒ္ဒရာတွင် နစ်မြုပ်ကွပ်မျက်ရန် အခြားအာဏာသားတို့အား စေခိုင်းပြန်၏။ သမုဒ္ဒရာအတွင်းသို့ ရောက်ကြသောအခါ လူငယ်သည် ယခင်အတိုင်း အလ္လာဟ်အရှင်မြတ်ထံတော်၌ ဆုပန်ကြားလေရာ အာဏာသားအားလုံးတို့သည် ရေဘေးသင့်ပြီး သေကြေပျက်စီး ခဲ့ကြလေသည်။ လူငယ်မှာကား အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်ဖြင့် ဘုရင့်ထံသို့ ကျန်းမာချမ်းသာစွာ ပြန်လည်ရောက်ရှိလာခဲ့ပြီး၊ ဖြစ်ကြောင်းကုန်စင် လျှောက်ထားလေသည်။

ထို့နောက် လူငယ်က "ဘုရင်မင်းမြတ်၊ ဘုရင်မင်းမြတ်သည် ကျွန်တော်မျိုးအား မည်သို့မျှ ကွပ်မျက်တော်မူနိုင်သည် မဟုတ်ပါ၊ ဘုရင်မင်းမြတ်သည် ကျွန်တော်မျိုးအား ကွပ်မျက်တော်မူလိုပါက ကျွန်တော်မျိုး ညွှန်ပြသည့်အတိုင်း လိုက်နာကျင့်မူရမည်သာဖြစ်ပါသည်။ သို့မဟုတ်ပါက ကျွန်တော်မျိုးအား ကွပ်မျက်တော် မူနိုင်မည် မဟုတ်ပါ"ဟု လျှောက်ထားလေသည်။ ဘုရင်က "အသင် ညွှန်ပြလိုသောအချက်ကား အသို့ပါနည်း" ဟုမေးရာ၊ လူငယ်က "ဘုရင်မင်းမြတ်သည် တိုင်းသူပြည်သား လူအများအား ကွင်းပြင်ကြီးတစ်ခုလုံးတွင် စုရုံးစေတော်မူပါ၊ကျွန်တော်မျိုးအား စွန်ပလွံပင်ပေါ်တွင် ကားစင်တင်တော်မူပါ၊ ပြီးနောက် ကျွန်တော်မျိုး၏ မြှားအိပ်မှ မြှားတစ်ချောင်းယူတော်မူပါ၊ ထို့နောက် ကျွန်တော်မျိုး ဆည်းကပ်ကိုးကွယ်သော အလ္လာဟ်အရှင်မြတ်၏ နာမ်တော်ကိုတသ၍ ကျွန်တော်မျိုးအား ပစ်တော်မူပါ"ဟု ညွှန်ပြလေသည်။ ဘုရင်သည် လူငယ် ညွှန်ပြသည့် အတိုင်း လိုက်နာကျင့်မူ၍ လူငယ်အား တိုင်းသူပြည်သား ရှေ့မှောက်တွင် ကားစင်ပေါ်တင်၍ လူငယ်၏ မြှားအိပ်ထဲမှ မြှားတစ်ချောင်းယူ၍ လူငယ်ဆည်းကပ်ကိုးကွယ်သော အလ္လာဟ်အရှင်မြတ်၏ နာမ်တော်ကို တသကာ ပစ်လိုက်ရာ လူငယ်သည် သေဆုံးသွားခဲ့ရာလေသည်။ ထိုသည့်အခြင်းအရာကို တွေ့မြင်ကြရသောအခါ (လူငယ်၏ ဘာသာအယူဝါဒမှန်ကန်ကြောင်း သိရှိသွားကြပြီး) တိုင်းသူပြည်သား လူအများတို့က "ကျွန်တော်မျိုး သည် လူငယ် ဆည်းကပ်ကိုးကွယ်သော အလ္လာဟ်အရှင်မြတ်အား အီမာန် သက်ဝင်ယုံကြည်ကြပါပြီ" ဟု တစ်ခဲနက် မြွက်ဆိုကြလေတော့သည်။

ထိုအခါ မှူးမတ်များက ဘုရင်အား "ဘုရင်မင်းမြတ်၊ ဘုရင်မင်းမြတ် စိုးရိမ်တော်မူသော အရာသည်ပင် ဖြစ်ပေါ်လာချေပြီ။ ယခု တိုင်းသူပြည်သားလူအများတို့သည် လူငယ် ဆည်းကပ်ကိုးကွယ်သော အလ္လာဟ်အရှင်မြတ် အား အီမာန် သက်ဝင်ယုံကြည်ကုန်ကြပါပြီ"ဟု လျှောက်ထားကြရာ၊ ဘုရင်သည် (ဒေါသအမျက် ချောင်းချောင်း ထွက်ကာ) ကျင်းကြီးကျင်းငယ်များ တူးစေ၍ မီးအကြီးအကျယ် လောင်ကျွမ်းစေပြီး အလ္လာဟ်အရှင်မြတ်အား သက်ဝင်ယုံကြည်သူအားလုံးတို့ကို ရင်နင့်ဖွယ်ရာ ရက်စက်စွာ မီးတိုက်စေခဲ့လေသည်။ အီမာန် သက်ဝင်ယုံကြည်သူ အားလုံးတို့သည်လည်း အလ္လာဟ်အရှင်မြတ်အား အီမာန် သက်ဝင်ယုံကြည်သောအားဖြင့် မကြောက်မရွံ့ နောက်မတွန့်ဘဲ မီးကျင်းများအတွင်းသို့ ဆင်းသွားခဲ့ကြလေသည်။ နောက်ဆုံးတွင် မိမိ၏ကလေးကို နို့တိုက်လျက် သားသည်အမေ အမျိုးသမီးတစ်ဦးလည်း ရောက်ရှိလာခဲ့၏။ သားသည်အမေသည် ကလေး၏ သံယောဇဉ်ကြီးစွာ ငြိတွယ်လျက်ရှိသည့်အတွက် မီးတွင်းဆင်းရန် အနည်းငယ်တွန့်ဆုတ်မိ၏။ ထိုအခါ ရင်ခွင်ဝယ်ရှိ သားငယ်က ➤➤

إِذْ هُمْ عَلَيْهَا قُعُودٌ ٦

၆။ အကြင်အခါဝယ် ၎င်းတို့သည် ထိုမီး၏အနီး ပတ်ဝန်းကျင်၌ ထိုင်လျက်ရှိခဲ့ကြကုန်၏။

وَهُمْ عَلَىٰ مَا يَفْعَلُونَ بِالْمُؤْمِنِينَ شُهُودٌ ٧

၇။ ထို့ပြင် ၎င်းတို့သည် "မုအ်မင်န်" သက်ဝင်ယုံကြည်သူတို့အား မိမိတို့ပြုလျက်ရှိသော အမှုကိစ္စ (နှိပ်စက်ညှဉ်းပမ်းမှု)ကို ရှုစားလျက်ရှိခဲ့ကြကုန်၏။ [၁]

وَمَا نَقَمُوا مِنْهُمْ إِلَّا أَنْ يُؤْمِنُوا بِاللَّهِ الْعَزِيزِ الْحَمِيدِ ٨

၈။ စင်စစ် ၎င်းတို့သည် ထို"မုအ်မင်န်" သက်ဝင်ယုံကြည်သူတို့၌ တန်ခိုးကြီးမားတော်မူသော၊ ချီးမွမ်းထောပနာအပေါင်းကို ခံယူထိုက်တော်မူသော အကြင် အလ္လာဟ်အရှင်မြတ်အား သက်ဝင်ယုံကြည်ကြသည်မှတပါး အခြားတစ်စုံတစ်ရာကိုမျှ တွေ့ရှိခဲ့ကြသည် မဟုတ်ပေ။

الَّذِي لَهُ مُلْكُ السَّمَاوَاتِ وَالْأَرْضِ ۚ وَاللَّهُ عَلَىٰ كُلِّ شَيْءٍ شَهِيدٌ ٩

၉။ မိုးကောင်းကင်များကိုလည်းကောင်း၊ ကမ္ဘာမြေကိုလည်းကောင်း၊ စိုးမိုးအုပ်ချုပ်မှု အာဏာသည် ထိုအလ္လာဟ်အရှင်မြတ်၌သာ ရှိပေသည်။ [၂]

>> "မေမေ၊ မတွန့်ဆုတ်ပါနှင့်၊ မကြောက်ပါနှင့်၊ မေမေသည် မှန်ကန်သောဘာသာအယူဝါဒအပေါ်တွင် ရပ်တည်လျက်ရှိပါသည်။ ရဲဝံ့စွာ မီးတွင်းသို့ဆင်းပါ"ဟုပြောဆိုလိုက်လေသည်။ အိဗ်နုကဆီရ်၊အ-၄၊စ-၄၉၃။

(၁) အဆိုပါ ဘုရင်သည် အီမာန် သက်ဝင်ယုံကြည်သော မုအ်မင်န်တို့အား ရက်စက်စွာ မီးတိုက်ခဲ့သည်သာမက မိမိ၏မှူးမတ်များနှင့်တကွ မီးတွင်းများအနီးတွင်ထိုင်၍ မရှုမလှ မီးလောင်ကျွမ်းနေသော မုအ်မင်န်တို့အား ပွဲကြည့်၍ပင် နေခဲ့ကြပေသည်။ အနည်းငယ် စိုးစဉ်းမျှပင် မစာနာခဲ့ကြပေ၊ မထောက်ထားခဲ့ကြပေ၊ မသနားခဲ့ကြပေ။ ဤကား ကမ်းကုန်အောင် ရက်စက် ကြမ်းကြုတ်ခြင်းပင်။

(၂) ယင်းသို့ မီးလောင်တိုက် အသွင်းခံကြရရှာသော မုအ်မင်န်တို့၌ အလ္လာဟ်အရှင်မြတ်အား အီမာန် သက်ဝင်ယုံကြည်ကြသည်မှတပါး အခြားတစ်စုံတစ်ရာ အပြစ်မရှိပေ။ ထိုအရှင်မြတ်သည် မဟာတန်ခိုးတော်နှင့် ပြည့်စုံတော်မူပေသည်။ ချီးမွမ်းထောပနာခြင်းအပေါင်းကို ခံယူထိုက်တော်မူပေသည်။ မိုးမြေစသည့် စကြာဝဠာအဝှမ်းကို စိုးပိုင်တော်မူသည်၊ အရာခပ်သိမ်းကုန်တို့ကို အကြွင်းမဲ့ သိမြင်တော်မူသည်။ ယင်းသို့ မဟာတန်ခိုးတော်၊ မဟာဉာဏ်တော်နှင့် ပြည့်စုံတော်မူသော အလ္လာဟ်အရှင်မြတ်အား အီမာန် သက်ဝင်ယုံကြည်ရမည်သာ၊ ဆည်းကပ်ကိုးကွယ်ရမည်သာ၊ ထိုသို့သော အလ္လာဟ်အရှင်မြတ်၏ အမိန့်ပညတ်အရပ်ရပ်ကို မြေဝယ်မကျ နာခံရမည်သာ။ သို့ပါလျက် ယင်း ဘုရင်နှင့်မှူးမတ်တို့သည် ထိုသို့သော အရှင်သခင်အား အီမာန် သက်ဝင်ယုံကြည်သည်ကိုပင် အကြောင်းပြု၍ မုအ်မင်န်တို့အား အရေးယူခဲ့ကြပေသည်။ ရက်စက်စွာ မီးလောင်တိုက် သွင်းခဲ့ကြပေသည်။ >>

إِنَّ الَّذِينَ فَتَنُوا الْمُؤْمِنِينَ وَالْمُؤْمِنَاتِ ثُمَّ لَمْ يَتُوبُوا فَلَهُمْ عَذَابُ جَهَنَّمَ وَلَهُمْ عَذَابُ الْحَرِيقِ ﴿١٠﴾

၁၀။ ကေန်မလွဲ အကြင်သူတို့သည် "မုအ်မင်န်" သက်ဝင်ယုံကြည်ကြကုန်သော ယောကျ်ားတို့အားလည်းကောင်း၊ "မုအ်မင်န်" သက်ဝင် ယုံကြည်ကြကုန်သော မိန်းမတို့အားလည်းကောင်း၊ နှိပ်စက်ညှဉ်းပမ်းခဲ့ကြ၏။ ထို့နောက် ၎င်းတို့သည်ဝန်ချတောင်းပန်ခြင်းမပြုခဲ့ကြပေ၊ ထိုသူတို့၌ "ဂျဟန္နမ်"ငရဲ၏ပြစ်ဒဏ်သည် (အထူးသဖြင့်) မီးလောင်ကျွမ်းခြင်း၏ပြစ်ဒဏ်သည် ရှိချေသတည်း။ [၁]

إِنَّ الَّذِينَ آمَنُوا وَعَمِلُوا الصَّالِحَاتِ لَهُمْ جَنَّاتٌ تَجْرِي مِن تَحْتِهَا الْأَنْهَارُ ۚ ذَٰلِكَ الْفَوْزُ الْكَبِيرُ ﴿١١﴾

၁၁။ ကေန်မုချ "အီမာန်" သက်ဝင်ယုံကြည်၍ ကောင်းမြတ်သော အကျင့်သီလများကို ကျင့်မူဆောက်တည်ကြကုန်သော သူတို့အဖို့ အကြင်ဥယျာဉ်များသည်ရှိပေသည်။ ထိုဥယျာဉ်များ၏အောက်မှ စမ်းချောင်းများသည် စီးတွေလျက်ရှိပေသည်။ ဤသည်ကြီးကျယ်လှစွာသော အောင်မြင်မှုပင်။ [၂]

إِنَّ بَطْشَ رَبِّكَ لَشَدِيدٌ ﴿١٢﴾

၁၂။ မလွဲကေန် အသင့်အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်၏ ဖမ်းဆီးမှု၊ (အရေးယူ)မှုသည် အမှန်ပင် ပြင်းထန်လှပေသည်။

---

➤➤ သို့ဖြစ်ရာ အလ္လာဟ်အရှင်မြတ်သည် မိမိအား ယုံကြည်သူများကို ယင်းသို့ ယုံကြည်သည်ကိုပင် ဖွေယူကာ မီးလောင်တိုက် သွင်းခဲ့သူများကို အသို့လျှင် လျစ်လျူရှုထားတော်မူအံ့နည်း။ ထိုအရှင်မြတ်သည် ၎င်းတို့အား ၎င်းတို့နှင့်ထိုက်တန်သည့် ကြီးလေးသော ပြစ်ဒဏ်မုချ ခတ်တော်မူမည်သာတည်း။

(၁) အလ္လာဟ်အရှင်မြတ်၏ ပြစ်ဒဏ်သည် "အတ်ဆွဲဟာဗုလ် အုခ်ဒူဒ်" နှင့်သာ ပတ်သက်သည်မဟုတ်၊ မည်သူမဆို အီမာန် သက်ဝင်ယုံကြည်သော မုအ်မင်န်တို့အား အစ္စလာမ်၏ အမှန်တရားမှ ဖဲကြဉ်ထွက်ခွာသွားစေရန်အတွက် နှိပ်စက်ညှဉ်းပန်းကြလျှင်၊ (ဥပမာ မက္ကာမြို့သား ကာဖိရ်များသည် ဤသည့်သဘောဖြင့် မုအ်မင်န်တို့အား အမျိုးမျိုး နှိပ်စက်ညှဉ်းပန်းလျက် ရှိခဲ့ကြသည်)။ ထို့နောက် အချိန်မီ သတိသံဝေဂ နောင်တမရကြလျှင် ထိုသို့သောသူ အားလုံးတို့သည် (လူမျိုးမရွေး၊ ဘာသာမရွေး၊ ခေတ်မရွေး) ကြီးသော ငရဲပြစ်ဒဏ်နှင့် အထူးသဖြင့် ငရဲမီး လောင်ကျွမ်းခြင်းဒဏ်ကို အမှန်ခံစားကြရမည်သာတည်း။

(၂) ဆိုလိုသည်ကား မုအ်မင်န်သူတော်စင်များသည် ဤပစ္စက္ခတွင် တွေ့ကြုံခံစားကြရသော ဒုက္ခကြီးငယ်များကို ကြည့်၍ စိတ်မပျက်ကြရာ။ အကြီးဆုံးနှင့်နောက်ဆုံး အောင်မြင်မှုသည် ၎င်းတို့အဖို့သာဖြစ်သည်။ ယင်းအောင်မြင်မှု၏ရှေ့တွင် ဤလောကီသုခ၊ လောကီဒုက္ခသည် အချည်းနှီးသာတည်း။

إِنَّهُۥ هُوَ يُبْدِئُ وَيُعِيدُ ﴿١٣﴾

၁၃။ ကေန်မလွဲ ထိုအရှင်မြတ်သည်သာလျှင် (ပထမအကြိမ်) စတင် ဖန်ဆင်းတော်မူ၏။ တဖန် ထိုအရှင်မြတ်သည်သာလျှင် (ဒုတိယအကြိမ်) ပြန်လည် ဖန်ဆင်းတော်မူပေမည်။

وَهُوَ ٱلْغَفُورُ ٱلْوَدُودُ ﴿١٤﴾

၁၄။ ၎င်းပြင် ထိုအရှင်မြတ်သည်သာလျှင် အလွန်တရာ လွတ်ငြိမ်းချမ်းသာခွင့် ပေးသနားတော်မူသောအရှင်၊ အလွန်တရာ ချစ်မြတ်နိုးတော်မူသောအရှင်။

ذُو ٱلْعَرْشِ ٱلْمَجِيدُ ﴿١٥﴾

၁၅။ "အရ်ရှ်" ပလ္လင်တော်ကို စိုးပိုင်တော်မူသောအရှင်၊ အထူးဂုဏ်ကျက်သရေနှင့် ပြည့်စုံတော်မူသောအရှင်။

فَعَّالٌ لِّمَا يُرِيدُ ﴿١٦﴾

၁၆။ မိမိ ရည်စူးတော်မူသောကိစ္စကို ပြီးမြောက်အောင် ဆောင်ရွက်တော်မူသောအရှင် ဖြစ်တော်မူ၏။

هَلْ أَتَىٰكَ حَدِيثُ ٱلْجُنُودِ ﴿١٧﴾

၁၇။ (အို-နဗီတမန်တော်) အသင့်ထံ ထိုတပ်များ၏အကြောင်း အတ္ထုပ္ပတ္တိသည် ရောက်ရှိခဲ့ပြီ မဟုတ်လော။

فِرْعَوْنَ وَثَمُودَ ﴿١٨﴾

၁၈။ "ဖစ်ရ်အောင်န်" ၏တပ်များ အကြောင်းသည်လည်းကောင်း၊ "ဆမူဒ်" အမျိုးသားတို့၏အကြောင်းသည်လည်းကောင်း။

بَلِ ٱلَّذِينَ كَفَرُوا۟ فِى تَكْذِيبٍ ﴿١٩﴾

၁၉။ ထိုမျှမကသေးပေ၊ စင်စစ်မှာကား ကာဖိရ်သွေဖည်ငြင်းပယ်ခဲ့ကြကုန်သောသူတို့သည် (ကုရ်အာန်ကျမ်းမြတ်ကိုပင်) မဟုတ်မမှန်ဟူ၍ ပြောဆိုငြင်းပယ်လျက် ရှိကြသေး၏။ [၁]

---

(၁) အလ္လာဟ်အရှင်မြတ်သည် ဖစ်ရ်အောင်န်၊ ဆမူဒ် စသည်တို့အား အချိန်ကာလအတော် ကြာမြင့်သည်အထိ အမျိုးမျိုး ကျေးဇူးတော်များကို ချီးမြှင့် တော်မူခဲ့ပေသည်။ သို့တစေလည်း ၎င်းတို့သည် ကျေးဇူးမသိတတ်ကြသည်သာမက ကျေးဇူးကန်းလာခဲ့ကြသည့် အတွက်၊ သွေဖည်ငြင်းဆန်လာခဲ့ကြသည့်အတွက်၊ ကျူးကျော်စော်ကားလာခဲ့ကြသည့်အတွက် အလ္လာဟ်အရှင်မြတ်သည် နောက်ဆုံးတွင် ၎င်းတို့အား ကြီးလေးသော ပြစ်ဒဏ်ခတ်၍ ➤➤

وَّاللّٰهُ مِنْ وَّرَآئِهِمْ مُّحِيْطٌ ﴿٢٠﴾

၂၀။ စင်စစ်သော်ကား အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့အား အဘက်ဘက်မှ ဝန်းဝိုင်းလျက် ရှိတော်မူ၏။

بَلْ هُوَ قُرْاٰنٌ مَّجِيْدٌ ﴿٢١﴾

၂၁။ ထိုသို့ အလျှင်းမဟုတ်၊ စင်စစ်မှာကား ဤသည် အထူးဂုဏ်ဝိသေသနှင့်ပြည့်စုံသော ကုရ်အာန်ကျမ်းတော်မြတ်ပင်။

فِيْ لَوْحٍ مَّحْفُوْظٍ ﴿٢٢﴾

၂၂။ လုံခြုံစွာ ထိန်းသိမ်း၍ထားသည့် သင်ပုန်း၌ ရေးမှတ်ပြီးဖြစ်သော။ [၁]

---

➤➤ ကွပ်မျက်ခဲ့လေသည်။

ကာဖိရ်များသည် ဤသည့်ဖြစ်စဉ်ဖြစ်ရပ်များမှ သတိသံဝေဂ နောင်တတရား ရယူသင့်ကြပေသည်။ ယခုမူ ကာဖိရ်များသည် သတိသံဝေဂ မရကြသည်သာမက ကုရ်အာန်ကျမ်းမြတ်ကိုပင် ငြင်းဆိုလျက် ရှိကြပေသည်။ သို့ရာတွင် ကာဖိရ်များသည် အလ္လာဟ်အရှင်မြတ်၏ လက်တော်တွင်းမှ အသို့လျှင် လွတ်မြောက်နိုင်ကြအံ့နည်း။

(၁) **"လောင်ဟ်မဟ်ဖူဇ်" မှတ်တမ်းတော်။**

မှတ်တမ်းတော်အကြောင်း ကုရ်အာန်ကျမ်းမြတ်တွင် အများအပြား တွေ့ရှိရပေသည်။ ကြည့်-ကုရ်အာန် (၁၀း၆၁။ ၁၁း၆။ ၁၃း၃၉။ ၁၈း၄၉။ ၂၀း၅၂။ ၂၂း၇၀။ ၂၃း၆၂။ ၂၇း၇၅။ ၃၄း၃။ ၃၅း၁၁။ ၄၃း၄။ ၅၀း၄။ ၅၆း၇၈။ ၅၇း၂၂)။

မှတ်တမ်းတော်ကို အဘက်ဘက်မှ ထိန်းသိမ်းထားတော်မူသည်။ မှတ်တမ်းတော်တွင် အပြောင်းအလဲဟူ၍ စိုးစဉ်းမျှမရှိ။ ကုရ်အာန်ကျမ်းမြတ်သည် ယင်းမှတ်တမ်းတော်တွင် ရေးတင်ထားပြီးဖြစ်သည်။ ယင်းမှတ်တမ်းတော်တွင် ရှိသည့်အတိုင်းပင် တမန်တော်မြတ်ထံသို့ အပြောင်းအလဲမရှိ၊ အတိအကျ ကျရောက်လာခဲ့ပေသည်။ ကြည့်-ကုရ်အာန်(၇၂း၂၇)။

# ညဥ့်အချိန်၌ပေါ်လာသူကဏ္ဍ

سُورَةُ الطَّارِقِ

ဤကဏ္ဍသည် "တွာရစ်က်" ညဥ့်အချိန်၌ ပေါ်လာသူ ကဏ္ဍမည်၏။ ဤကဏ္ဍသည် မက္ကာမြို့တော်၌ ကျရောက်ခဲ့၏။ ဤကဏ္ဍတွင် အာယတ်တော် (၁၇) ပါး ပါရှိ၏။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ

မပြတ်မစဲ သနားကြင်နာ ညှာတာတော်မူသော မဟာကရုဏာတော်ရှင် ဖြစ်တော်မူသော အလ္လာဟ်အရှင်မြတ်၏နာမံတော်ဖြင့် အစပြုပါ၏။

وَالسَّمَآءِ وَالطَّارِقِ ①

၁။ (ငါအရှင်မြတ်သည်) မိုးကောင်းကင်ကိုလည်းကောင်း၊ ညဥ့်အချိန်၌ သွားလာသောအရာကိုလည်းကောင်း၊ သက်သေထူတော်မူ၏။

وَمَآ اَدْرٰىكَ مَا الطَّارِقُ ②

၂။ စင်စစ် ညဥ့်အချိန်၌လာသောအရာကား မည်သည့်အရာနည်းဟု အသင်သိပါသလော။

النَّجْمُ الثَّاقِبُ ③

၃။ ယင်းသည် (ထွင်းဖောက်) လင်း၀င်းတောက်ပသော ကြယ်တာရာပင်။

اِنْ كُلُّ نَفْسٍ لَّمَّا عَلَيْهَا حَافِظٌ ④

၄။ လူတိုင်းလူတိုင်း၌ ထိန်းသိမ်းစောင့်ရှောက်သူ (ကောင်းကင်တမန်)တစ်ဦးစီ ရှိပေသည်။ [1]

---

[1] လူတိုင်း၌ အစောင့်ရှိသည်။

လူတိုင်း၌ ၎င်းအကျင့်အမူများကို မှတ်သားသော ကောင်းကင်တမန် ရှိသည်သာဖြစ်သည်။ ဤသည့်သဘောကို ကုရ်အာန် (၈၂း၉-၁၁)တွင်လည်း မိန့်ဆိုထားတော်မူသည်။လူတိုင်း၌ ဘေးရန်အပေါင်းမှ ကာကွယ်စောင့်ရှောက်ရန် ကောင်းကင်တမန်လည်းရှိသည်။ ကြည့်-ကုရ်အာန် (၁၃း၁၁)။

ဆိုလိုသည်ကား အလ္လာဟ်အရှင်မြတ်သည် လူတိုင်းအား ၎င်း၏ အကျင့်အမူများနှင့်စပ်လျဉ်း၍ စောကြောမေးမြန်းပြီး ကျိုးပြစ်ပေးတော်မူမည်သာဖြစ်သည်။

ဤကဏ္ဍ၏အစတွင် အလ္လာဟ်အရှင်မြတ်သည် မိုးကောင်းကင်နှင့် ကြယ်တာရာများကို သက်သေထူထားတော်မူသည်။

ဆိုလိုသည်ကား မိုးကောင်းကင်များတွင် ကြယ်တာရာများကို အခါခပ်သိမ်း ထိန်းသိမ်းစောင့်ရှောက်တော်မူသည်။ သို့ရာတွင် ယင်းကြယ်တာရာများသည် ညဥ့်တိုင်း မထွက်ပေါ်ပေ၊ သီးသန့် ညဥ့်များ၌သာ ထွက်ပေါ်ပေသည်။

➤➤

| | |
|---|---|
| ၅။ သို့ဖြစ်ပေရာ လူသားသည် မည်သည့်အရာမှ မိမိ ဖန်ဆင်းခြင်းခံခဲ့ရသည်ကို ကြည့်ရှုရပေမည်။ | فَلۡيَنظُرِ ٱلۡإِنسَٰنُ مِمَّ خُلِقَ ۝٥ |
| ၆။ ထိုလူသားသည် ပန်း၍ထွက်သောအရည်မှ ဖန်ဆင်းခြင်းကို ခံခဲ့ရလေသည်။ | خُلِقَ مِن مَّآءٖ دَافِقٖ ۝٦ |
| ၇။ ထိုအရည်သည် ကျောရိုးနှင့် ရင်ရိုးများ၏ အကြားမှ (ဝါ-တစ်ကိုယ်လုံးမှ) ထွက်လေသည်။ | يَخۡرُجُ مِنۢ بَيۡنِ ٱلصُّلۡبِ وَٱلتَّرَآئِبِ ۝٧ |
| ၈။ ဧကန်မလွဲ ထိုအရှင်မြတ်သည် ထိုလူသားအား အမှန်ပင် ရှင်ပြန်ထစေတော်မူနိုင်သော အရှင်မြတ်ပင် ဖြစ်တော်မူ၏။ ၁ | إِنَّهُۥ عَلَىٰ رَجۡعِهِۦ لَقَادِرٞ ۝٨ |
| ၉။ လျှို့ဝှက်ချက်များ စစ်ဆေးစူးစမ်းခြင်း ခံရသောနေ့တွင်။ | يَوۡمَ تُبۡلَى ٱلسَّرَآئِرُ ۝٩ |
| ၁၀။ ထိုလူသား၌ မည်သည့် စွမ်းအင်မျှလည်း ရှိလိမ့်မည်မဟုတ်၊ ကူညီစောင်မမည့်သူဟူ၍လည်း တစ်ဦးတစ်ယောက်မျှပင် ရှိလိမ့်မည်မဟုတ်ပေတကား။ | فَمَا لَهُۥ مِن قُوَّةٖ وَلَا نَاصِرٖ ۝١٠ |
| ၁၁။ (ငါအရှင်မြတ်သည်) မိုးရေရွာသွန်းသော မိုးကောင်းကင်ကို သက်သေထူတော်မူ၏။ | وَٱلسَّمَآءِ ذَاتِ ٱلرَّجۡعِ ۝١١ |

---

➤➤ ထို့အတူ လူသားတို့၏ အကျင့်အမူများသည်လည်း မှတ်တမ်းတွင် အခါခပ်သိမ်း စနစ်တကျ မှတ်သားထားပြီး ဖြစ်သည်။ ထိုသည့်အတွက် အကျင့်အမူများသည် သီးသန့်အချိန်တွင် (ဝါ) ကိယာမတ်နေ့တွင် ထင်ရှားပေါ်လွင်လာပေမည်။ သို့ဖြစ်ရာ လူသားတို့သည် ကိယာမတ်အရေးကို လျစ်လျူရှုမထားရာ၊ သတိကြီးစွာဖြင့် ဆင်ခြင်ရာသတည်း။

① <u>လူသားသည် မိမိမည်သို့မည်ပုံ ဖြစ်ပေါ်လာသည်ကို ဆင်ခြင်ရာသည်။</u>

လူသားသည် ကိယာမတ်နှင့်စပ်လျဉ်း၍ ဒွိဟသံသယဖြစ်ပါက၊ မိမိအဘယ်အရာမှ ဖြစ်ပေါ်လာခဲ့သည်၊ မည်သို့မည်ပုံ ဖြစ်ပေါ်လာခဲ့သည်ကို စဉ်းစားဆင်ခြင်ရာသည်။ လူသားတို့သည် သုက်ရည်တစ်စက်မှ ဘဝအဖြစ် အခြေအနေအမျိုးမျိုးတို့ကို အဆင့်ဆင့် ကျော်လွန်ကာ ကမ္ဘာကြီးတစ်ခုလုံးထက်ပင် အံ့ဖွယ်ကောင်းလှသော၊ ပြည့်ဝစုံလင်လှသော လူသားတစ်ဦးဖြစ်ပေါ်လာခဲ့သည့် လူ့ဘဝဖြစ်စဉ်ကို လေးနက်စွာ စဉ်းစားဆင်ခြင် မြော်မြင်ကြည့်ရှုပါက ကိယာမတ်ကို ယုံကြည်လက်ခံလာပေမည်။

သုက်ရည်တစ်စက်ဖြင့် လူသားအဖြစ် အံ့ဖွယ်သရဲ ဖန်ဆင်းတော်မူနိုင်သော အရှင်မြတ်အဖို့မှာ ဖန်ဆင်းထားပြီးဖြစ်သော လူသားအား တစ်ဖန် ရှင်ပြန်ထစေတော်မူရန်မှာ အသို့လျှင် အခက်အခဲ ရှိနိုင်အံ့နည်း။

وَالْاَرْضِ ذَاتِ الصَّدْعِ ﴿١٢﴾

၁၂။ ၎င်းပြင် (ငါအရှင်မြတ်သည်) (သီးနှံထွက်ချိန်တွင်)အက်ကွဲသောပထဝီမြေကို သက်သေထူတော်မူ၏။

اِنَّهٗ لَقَوْلٌ فَصْلٌ ﴿١٣﴾

၁၃။ ကေန်မလွဲ ဤ(ကုရ်အာန်ကျမ်းတော်မြတ်)သည် အပြီးအပြတ်စကားပင်ဖြစ်ပေသည်။ (တိကျပြတ်သားသော အဆုံးအဖြတ်ပင် ဖြစ်ပေသည်။)

وَّمَا هُوَ بِالْهَزْلِ ﴿١٤﴾

၁၄။ ၎င်းပြင် ထိုစကားသည် ထို(ကုရ်အာန်ကျမ်းတော်မြတ်)သည် ကရော်ကမည် ပြောဆိုသော စကားမဟုတ်ပြီ။ [၁]

اِنَّهُمْ يَكِيْدُوْنَ كَيْدًا ﴿١٥﴾

၁၅။ ကေန်စင်စစ် ထို("ကာဖိရ်"သွေဖည်ငြင်းပယ်သော)သူတို့သည် အကြံအစည် အမျိုးမျိုးကို ကြံစည်လျက် ရှိကြကုန်၏။

وَّاَكِيْدُ كَيْدًا ﴿١٦﴾

၁၆။ ငါအရှင်မြတ်သည်လည်း အကြံအစည်အမျိုးမျိုးကို ကြံစည်လျက် ရှိတော်မူ၏။

فَمَهِّلِ الْكٰفِرِيْنَ اَمْهِلْهُمْ رُوَيْدًا ﴿١٧﴾

၁၇။ သို့ဖြစ်ပေရာ (အို-နဗီတမန်တော်) အသင်သည် "ကာဖိရ်" သွေဖည်ငြင်းပယ်သောသူတို့အား ရွှေ့ဆိုင်းခွင့်ပေးပါလေ။ အသင်သည် ၎င်းတို့အား မသိမသာ အချိန်ဆွဲ၍ ထားပါလေ။ (ခေတ္တလန်စမ်းထားပါလေ။)

---

(၁) လူသားတို့ရှေ့မှောက်မှာပင် အံ့ဖွယ်သရဲမိုးရွာသွန်းလျက်ရှိ၏။ မြေကြီးမှ အံ့ဖွယ်သရဲ သီးနှံများ ပေါက်ရောက်လျက်ရှိ၏။ လူသားတို့သည် မိုးရွာသွန်းပုံနှင့် သီးနှံပေါက်ရောက်ပုံများကို စဉ်းစားဆင်ခြင်ပါကလည်း ကိယာမတ်ကို ယုံကြည်လက်ခံလာကြပေမည်။ ဤအကြောင်းနှင့်စပ်လျဉ်း၍ ကုရ်အာန်ကျမ်းမြတ် (၂၂း၅-၇) ၏ အဖွင့်တွင် အကျယ်ရေးသားခဲ့ပေပြီ။ အမှတ်တရ ပြန်လည်ရှုပါကုန်။

ထို့အတွက်ကြောင့်ပင် ဤအာယတ်တော်တွင် မိုးရေရွာသွန်းသောမိုးကောင်းကင်နှင့် သီးနှံ ပေါက်ရောက်သော မြေကိုသက်သေထူ၍ ကုရ်အာန်သည် အမှားအမှန်နှင့်စပ်လျဉ်း၍ မှန်ကန်တိကျ ပြတ်သားသော အဆုံးအဖြတ်ဖြစ်သည်ဟု မိန့်ဆိုထားတော်မူခြင်းဖြစ်သည်။ ကုရ်အာန်သည် ကရော်ကမည်မဟုတ်၊ ကုရ်အာန်၏ ဟောကြားချက်များသည်လည်း ကရော်ကမည် မဟုတ်။ ကုရ်အာန်၌ ဒွိဟသံသယ အလျင်းမရှိ၊ ကုရ်အာန်သည် စလယ်ဆုံးမှန်ကန်သည်။ ကုရ်အာန်ကျမ်းလာ တရားတော်အားလုံးသည် မှန်ကန်သည်။ သို့ဖြစ်ရာ ကုရ်အာန်က ကြေညာထားသော ကိယာမတ်သည်လည်း တစ်ရက်မုချ ဆိုက်ရောက်မည်ဖြစ်သည်၊ ဤတွင် ဒွိဟ သံသယအလျင်းမရှိ။

# အမြင့်မြတ်ဆုံး ကဏ္ဍ




ဤကဏ္ဍသည် "အအ်လာ" အမြင့်မြတ်ဆုံးအရှင်၏ အကြောင်းပါဝင်သော ကဏ္ဍမည်၏။ မက္ကာမြို့တော်၌ ကျရောက်ခဲ့၏။ ဤကဏ္ဍတွင် အာယတ်တော် (၁၉)ပါး ပါရှိ၏။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ

မပြတ်မစဲ သနားကြင်နာ ညှာတာတော်မူသော မဟာကရုဏာတော်ရှင် ဖြစ်တော်မူသော အလ္လာဟ်အရှင်မြတ်၏နာမံတော်ဖြင့် အစပြုပါ၏။

سَبِّحِ اسْمَ رَبِّكَ الْأَعْلَى ①

၁။ (အို-နဗီတမန်တော်) အသင်သည် မိမိအား ဖန်ဆင်းမွေးမြူတော်မူသော၊ အမြင့်မြတ်ဆုံးဖြစ်တော်မူသော၊ အရှင်မြတ်၏နာမံတော် (သန့်ရှင်းစင်ကြယ်ကြောင်း)ကို ချီးမွမ်းမြွက်ဆိုပါလေ။ [၁]

الَّذِي خَلَقَ فَسَوَّى ②

၂။ အကြင်အရှင်မြတ်သည် (အရာခပ်သိမ်းတို့ကို) ဖန်ဆင်းတော်မူပြီးနောက် နေထားတကျဖြစ်အောင်လည်း ပြုလုပ်တော်မူခဲ့၏။ [၂]

---

① တမန်တော်မြတ်၏ 'ဟဒီဆ်' သြဝါဒတော်များတွင် လာရှိသည်မှာ ကုရ်အာန် ကျမ်းလာအာယတ်တော် ( فَسَبِّحْ بِاسْمِ رَبِّكَ الْعَظِيْمِ ) ကျရောက်လာသောအခါ တမန်တော်မြတ်က "အသင်တို့သည် ဤအာယတ်တော်ကို (ဆွလာတ်ဝတ်ပြုရာတွင်) မိမိတို့၏ ရကူအ် ဦးညွှတ်ရာ၌ မြွက်ဆိုကြကုန်"ဟု မိန့်ကြားတော်မူခဲ့လေသည်။ ထို့အတူ ကုရ်အာန်ကျမ်းလာ အာယတ်တော် ( سَبِّحِ اسْمَ رَبِّكَ الْأَعْلَى ) ကျရောက်သောအခါ၊ တမန်တော်မြတ်က "အသင်တို့သည် ဤအာယတ်တော်ကို မိမိတို့၏ 'စုဂျူဒ်' ဦးချရာတွင် မြွက်ဆိုကြကုန်"ဟု မိန့်ကြားတော်မူခဲ့လေသည်။ (ထိုသို့ သတ်မှတ်ချက်မရှိမီအလျှင်) ဆွဟာဗဟ် သာဝကကြီးများသည် ဦးညွှတ်ရာတွင် 'အလ္လာဟ်ဟုမ္မလက ရကအ်ဟု' ဟူ၍ လည်းကောင်း၊ ဦးချရာတွင် 'အလ္လာဟ်ဟုမ္မ လက ဆဂျဒ်ဟု' ဟူ၍ လည်းကောင်း၊ မြွက်ဆိုလေ့ ရှိခဲ့ကြပေသည်။

② ဤအာယတ်တော်ကို 'မုဖတ်စ်စိရ်' များသည် အနက်အမျိုးမျိုး ဖွင့်ကြသည်။ အလ္လာဟ်အရှင်မြတ်သည် အရာခပ်သိမ်းတို့ကို စတင်ဖန်ဆင်းတော်မူသည်။ သို့ဖန်ဆင်းတော်မူပြီးသည့်နောက် အသီးသီးတို့ကို လျော်ကန်သင့်မြတ် နေထား စေ့စပ်ကျနစွာ ပြုလုပ်တော်မူသည်။ ထိုအရှင်မြတ်သည် သက်ရှိသတ္တဝါများအဖို့ ၎င်းတို့နှင့် လျော်ကန်သင့်မြတ်သော အရာများကို ချင့်ချိန် စီမံသတ်မှတ်ထားတော်မူသည်။ သို့ချင့်ချိန် စီမံသတ်မှတ်ထားတော်မူပြီးသည့်နောက် ယင်းသတ္တဝါများအား ထိုသည့်အရာများကို လမ်းညွှန်ပြတော်မူသည်။ (ဝါ) ၎င်းတို့၌ ထိုသည့်အရာများကို လိုလားသည့် အာသာဆန္ဒများကို ဖြစ်ပေါ်စေတော်မူသည်။ ထာနဝီ။

وَالَّذِي قَدَّرَ فَهَدَىٰ ۝٣

၃။ ၎င်းပြင် ထိုအရှင်မြတ်သည် တင်ရင်စီမံတော်မူပြီးနောက် လမ်းညွှန်တော်မူခဲ့၏။

وَالَّذِي أَخْرَجَ الْمَرْعَىٰ ۝٤

၄။ ထိုမှတပါး ထိုအရှင်မြတ်သည် မြက်သစ်ပင် (ကောက်ပဲသီးနှံ)ကို ပေါက်ရောက်စေတော်မူခဲ့၏။

فَجَعَلَهُ غُثَاءً أَحْوَىٰ ۝٥

၅။ ထို့နောက် ထိုအရှင်မြတ်သည် ယင်းမြက်သစ်ပင်များကို (ဆွေးမြေ့)မည်းနက်သော ရိုးဖြတ်၊ ကောက်ရိုး၊ ဖြစ်စေတော်မူခဲ့၏။

سَنُقْرِئُكَ فَلَا تَنسَىٰ ۝٦

၆။ (အို-နဗီတမန်တော်၊)မုချဧကန် ငါအရှင်မြတ်သည် အသင့်အား ရွတ်ဖတ်စေတော်မူမည်၊ သို့ဖြစ်လျှင် အသင်သည် မေ့လျော့မည်မဟုတ်တော့ပြီ။ [၁]

---

① <u>ကုရ်အာန်ကျမ်းမြတ်ကို ထိန်းသိမ်းထားတော်မူရန် ကတိတော်</u>

အထက်ပါ အာယတ်တော်များတွင် လာရှိသည့်အတိုင်း အလ္လာဟ်အရှင်မြတ်၏ တန်ခိုးတော် ကျေးဇူးတော်များကား အတိုင်းအဆမရှိ ကြီးမားများပြားလှပေရာ၊ ထိုအရှင်မြတ်အားသာလျှင် ဂုဏ်တော်မွမ်းကြရပေမည်။ ထိုအရှင်မြတ်၏ အမိန့်ပညတ်တော်များကိုသာ နာခံကြရပေမည်။

အလ္လာဟ်အရှင်မြတ်သည် မိမိအား မည်သို့မည်ပုံ နာခံကြရမည့် နည်းနာနိဿည်းများကို ညွှန်ပြတော်မူရန်အလို့ငှာ တမန်တော်မြတ်အပေါ်သို့ ကုရ်အာန်ကျမ်းမြတ်ကို ထုတ်ပြန်ပို့ချတော်မူသည်။ သို့ထုတ်ပြန်ပို့ချတော်မူပြီးသည့်နောက် တမန်တော်မြတ်အား အလ္လာဟ်အရှင်မြတ်က ကတိပြုထားတော်မူသည်မှာ ငါအရှင်မြတ်သည် အသင့်အား (ကုရ်အာန်ကျမ်းမြတ်ကို) ရွတ်ဖတ်စေတော်မူမည်၊ (ဝါ) ကျက်မှတ်စေတော်မူမည်၊ သို့ဖြစ်ရာ အသင်သည် (မည်သည့်အစိတ်အပိုင်းကိုမျှ) မေ့ပျောက်မည်မဟုတ်ပေ။

သို့ရာတွင် အလ္လာဟ်အရှင်မြတ်(မေ့ပျောက်စေတော်မူရန်) အလိုရှိတော်မူသောအရာကိုမူ (ထိုအရှင်မြတ်သည် တမန်တော်မြတ်၏ မှတ်သားဉာဏ်အတွင်းမှလည်းကောင်း၊ အခြားလူခပ်သိမ်းတို့၏ မှတ်သားဉာဏ်အတွင်းမှလည်းကောင်း၊ မေ့ပျောက်သွားစေတော်မူမည်ဖြစ်သည်။ သို့မှတ်သားဉာဏ်တွင် ကျက်မှတ်မိစေတော်မူခြင်း၊ မှတ်သားဉာဏ်အတွင်းမှ မေ့ပျောက်စေတော်မူခြင်းများသည်လည်း ဟိကမတ် အမြော်အမြင်၊ ဆင်ခြင်တုံတရားနှင့် စပ်မိ၊ ဟပ်မိသည်သာ ဖြစ်ပေသည်)။

အဘယ်ကြောင့်ဆိုသော် ထိုအရှင်မြတ်သည် ထင်ရှားပေါ်လွင်နေသော အရာခပ်သိမ်းကုန်တို့ကိုလည်းကောင်း၊ ဖုံးကွယ်လျက်ရှိသော အရာခပ်သိမ်းကုန်တို့ကိုလည်းကောင်း အကြွင်းမဲ့သိတော်မူသည်။

သို့ဖြစ်ရာ ထိုအရှင်မြတ်သည် အမြဲတစေ ထိန်းသိမ်းထားအပ်သည်များကို ထိန်းသိမ်းတော်မူ၍ မေ့ပျောက်စေသင့်သည်များကို မေ့ပျောက်စေတော်မူပေသည်။ ယင်းသို့ မေ့ပျောက် စေတော်မူခြင်းသည် "နစ်ခ်" တစ်မျိုးပင်။ "နတ်ဖ်ခ်" အကြောင်း ကုရ်အာန်ကျမ်းမြတ် (၂း၁၀၆)တွင်ပါရှိခဲ့ပေပြီ။ ထာနဝီ။

إِلَّا مَا شَاءَ اللَّهُ ۚ إِنَّهُ يَعْلَمُ الْجَهْرَ وَمَا يَخْفَىٰ ⑦

၇။ အလ္လာဟ်အရှင်မြတ် အလိုရှိတော်မူသောအရာမှတပါး အခြားကို၊ ဧကန်မလွဲ ထိုအရှင်မြတ်သည် ထင်ရှားသိသာသောအရာကိုလည်းကောင်း၊ ဖုံးကွယ်လျက်ရှိသောအရာကိုလည်းကောင်း၊ သိရှိတော်မူ၏။

وَنُيَسِّرُكَ لِلْيُسْرَىٰ ⑧

၈။ ထိုမှတပါး ငါအရှင်မြတ်သည် အသင့်အား တဖြည်းဖြည်း လွယ်ကူမှုသို့ ပို့ပေးတော်မူပေမည်။ (ငါအရှင်မြတ်သည် အသင့်အား လွယ်ကူသော ရှရီအတ်ကို (လိုက်နာ ကျင့်သုံးရန်) လွယ်ကူစေတော်မူမည်)။ [၁]

فَذَكِّرْ إِن نَّفَعَتِ الذِّكْرَىٰ ⑨

၉။ သို့ဖြစ်ပေရာ အကယ်၍ ဆုံးမခြင်းသည် အကျိုးဖြစ်စေလျှင် အသင်သည် ဆုံးမပါလေ။

سَيَذَّكَّرُ مَن يَخْشَىٰ ⑩

၁၀။ (အလ္လာဟ်အရှင်မြတ်အား) ကြောက်ရွံ့သောသူသည် အမှန်ပင် တရားရပေလိမ့်မည်။

وَيَتَجَنَّبُهَا الْأَشْقَى ⑪

၁၁။ သို့ရာတွင် အလွန် အကြောင်းမလှသောသူမှာမူကား ယင်းဆုံးမသြဝါဒမှ သွေဖည်၍ နေပေလိမ့်မည်။

---

(၁) **လွယ်ကူသော ရှရီအတ်။**

အလ္လာဟ်အရှင်မြတ်သည် တမန်တော်မြတ်အဖို့ ကုရ်အာန်ကျမ်းမြတ် ကျက်မှတ်မှုကို လွယ်ကူစေတော်မူသကဲ့သို့ တမန်တော်မြတ်အဖို့ လွယ်ကူသော ရှရီအတ်၏ အမိန့်ပညတ်အရပ်ရပ်ကို လိုက်နာကျင့်သုံးမှုကိုလည်း လွယ်ကူစေတော်မူမည်ဖြစ်သည်။ (ဝါ) နားလည်သဘောပေါက်ရန်လည်း လွယ်ကူပေမည်။ လိုက်နာကျင့်သုံးရန်လည်း လွယ်ကူပေမည်။ "တဗ်လီဃ်" တရားဟောကြားရန်လည်း လွယ်ကူပေမည်။ တွေ့ကြုံရမည့်အနှောင့်အယှက် အခက်အခဲများကိုလည်း လွယ်ကူစွာ ကျော်လွှန်သွားနိုင်ပေမည်။

"လွယ်ကူသော ရှရီအတ်"ဟူ၍ ဝိသေသပြုထားတော်မူခြင်းမှာ ရှရီအတ်ကို ချီးမွမ်းဂုဏ်သိဒ္ဓိတင်တော်မူခြင်းလည်း ဖြစ်နိုင်ပေသည်။ သို့မဟုတ် ရှရီအတ်သည် လိုက်နာကျင့်မှုသူတို့၌ လွယ်ကူမှု ချမ်းသာမှုများ ဖြစ်ပေါ်စေသည့် အကြောင်းတရားဖြစ်သည့်အတွက်ကြောင့် ယင်းသို့ ဝိသေသပြုထားတော်မူခြင်းလည်း ဖြစ်နိုင်ပေသည်။ ထာနဝီ။

الَّذِي يَصْلَى النَّارَ الْكُبْرَىٰ ﴿١٢﴾

၁၂။ အကြင် အကြောင်းမလှသောသူသည် အလွန်ကြီးကျယ်သော မီးထဲသို့ ဝင်ရောက်ရပေမည်။ [၁]

ثُمَّ لَا يَمُوتُ فِيهَا وَلَا يَحْيَىٰ ﴿١٣﴾

၁၃။ ထို့နောက် ထိုသူသည် ယင်းမီးထဲ၌ သေဆုံးသွားမည်လည်းမဟုတ်ပေ၊ အသက်ရှင်၍နေမည်လည်း မဟုတ်ပေတကား။

قَدْ أَفْلَحَ مَن تَزَكَّىٰ ﴿١٤﴾

၁၄။ စေကန်မလွဲ အကြင်သူသည် အောင်မြင်ခဲ့လေပြီ၊ ထိုသူသည် "အီမာန်" သက်ဝင်ယုံကြည်ခြင်းအားဖြင့် စင်ကြယ်သန့်ရှင်းခဲ့၏။

وَذَكَرَ اسْمَ رَبِّهِ فَصَلَّىٰ ﴿١٥﴾

၁၅။ ၎င်းပြင် ထိုသူသည် မိမိအား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်၏နာမံတော်ကို အောက်မေ့တ,သ ပြီးနောက် "ဆွလာတ်" ဝတ်ပြုခဲ့၏။ [၂]

---

(၁) <u>အမြဲတစေ သွန်သင်ဆုံးမပါလေ။</u>

အလ္လာဟ်အရှင်မြတ်သည် တမန်တော်မြတ်အဖို့ ရှရီအတ်ကို လွယ်ကူစေတော်မူမည့်အကြောင်း ကတိပြုထားတော်မူပြီးဖြစ်ရာ၊ တမန်တော်မြတ်သည် မိမိကိုယ်တော်တိုင် အလ္လာဟ်အရှင်မြတ်အား ဂုဏ်တော်မွမ်းသကဲ့သို့၊ ဝတ်ပြုသကဲ့သို့၊ နာခံသကဲ့သို့ သွန်သင်ဆုံးမမှုသည် အကျိုးပြုပါသော် သူတပါးတို့အားလည်း အမြဲတစေ သွန်သင်ဆုံးမရမည့်အကြောင်း မိန့်ကြားထားတော်မူသည်။

သွန်သင်ဆုံးမမှုသည် လက်တွေ့အားဖြင့် အကျိုးပြုသည်သာဖြစ်ပေသည်။ ကုရ်အာန်ကျမ်းမြတ် (၅၁း၅၅) တွင်လည်း "မုချစေကန် သွန်သင်ဆုံးမမှုသည် မုအ်မင်န်တို့အား အကျိုးပြုသည်"ဟု လာရှိပေသည်။ အချုပ်မှာ သွန်သင်ဆုံးမမှုသည် အကျိုးရှိသော အရာသာဖြစ်ပေသည်။ ထို့အတွက် တမန်တော်မြတ်အား "အသင်သည် အမြဲတစေ သွန်သင်ဆုံးမပါလေ"ဟု မိန့်ကြားထားတော်မူခြင်း ဖြစ်သည်။

ဤတွင် စဉ်းစားအပ်သည့်အချက်တစ်ရပ်မှာ သွန်သင်ဆုံးမမှုသည် အကျိုးရှိသောအရာဖြစ်သည်ကား မှန်၏။ သို့ရာတွင် လူခပ်သိမ်းကုန်တို့အား အကျိုးပြုသည်၊ လူခပ်သိမ်းကုန်တို့သည် သွန်သင်ဆုံးမမှုကိုကြားနာပြီး အမိန့်ပညတ်အရပ်ရပ်တို့ကို လိုက်နာလာကြလိမ့်မည်ဟူ၍ကား မထင်မှတ်ရာ။ အမှန်မှာ အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ရိုသေခန့်ညားအပ်သောသူများသာလျှင် သွန်သင်ဆုံးမမှုကို နာခံကြပေမည်။ အကြောင်းမလှသောသူများမှုကား သွန်သင်ဆုံးမမှုများကို ဝေးစွာရှောင်ကြဉ်ကြပေမည်။ နောက်ဆုံးတွင် ငရဲသို့လား၍ မသေမရှင် မရှုမလှ ပြစ်ဒဏ် ခံစားကြရပေမည်။ ထာနဝီ။

ရှေ့တွင် အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ရိုသေ ခန့်ညားသူများ၏ဂုဏ်ရည်နှင့် ကာဖိရ်များ၏ လွဲမှားမှုကို မိန့်ဆိုထားတော်မူသည်။

(၂) အလ္လာဟ်အရှင်မြတ်အား အီမာန်သက်ဝင်ယုံကြည်သော ပုဂ္ဂိုလ်များသည် ကုရ်အာန်ကျမ်းလာ➤➤

بَلْ تُؤْثِرُوْنَ الْحَيٰوةَ الدُّنْيَا ﴿١٦﴾

၁၆။ ထိုသို့ အလျှင်းမဟုတ် စင်စစ်မှာကား အသင်တို့သည် လောကီဘဝကိုပင် ဦးစားပေးနေကြကုန်၏။

وَالْاٰخِرَةُ خَيْرٌ وَّ اَبْقٰى ﴿١٧﴾

၁၇။ အမှန်သော်ကား တမလွန်ဘဝသည် ပိုမို၍ ကောင်းမြတ်သည့်ပြင် ပိုမို၍ပင် တည်မြဲပေသည်။

اِنَّ هٰذَا لَفِى الصُّحُفِ الْاُوْلٰى ﴿١٨﴾

၁၈။ ကေန်စင်စစ် ဤသည် ရှေးဟောင်းကျမ်းများ၌လည်း လာရှိခဲ့ပေပြီ။

صُحُفِ اِبْرٰهِيْمَ وَمُوْسٰى ﴿١٩﴾

၁၉။ (နဗီတမန်တော်)အီဗ်ရာဟီမ်၏(ထံသို့ ကျရောက်ခဲ့သော)ကျမ်းများ၌လည်းကောင်း၊ (နဗီတမန်တော်)မူစာ၏(ထံသို့ ကျရောက်ခဲ့သော)ကျမ်းများ၌လည်းကောင်း။ [၁]

---

➤➤ တရားတော်များကို ကြားနာ၍ မှားယွင်းသော ယုံကြည်ချက်များမှလည်းကောင်း၊ ညစ်ညမ်းသော အကျင့်အမူများမှလည်းကောင်း၊ ရုပ်နာမ် အတွင်းအပြင် မှားယွင်းမှု၊ ညစ်ညမ်းမှုအစုစုတို့မှ စင်ကြယ်သန့်ရှင်းသွားကြလေသည်။ မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသော အလ္လာဟ်အရှင်မြတ်၏နာမံတော်ကို တသကာဆွလာတ် ဝတ်ပြုကြလေသည်။ ထိုသို့သော ပုဂ္ဂိုလ်များသည် အောင်မြင်ကြလေပြီ။

(၁) ကုရ်အာန်ကျမ်းလာ ဤအာယတ်တော် (၈၇း၁၆) တွင် "ထိုသို့မဟုတ်၊ အသင်တို့သည် ဤလောကီဘဝကိုပင် ပိုမိုနှစ်သက်ကြသည်"ဟူ၍ လာရှိ၏။ ဤအာယတ်တော်တွင် "အသင်တို့" ဟူသော နာမ်စားသည် ကာဖိရ်များကို ရည်ညွှန်းသည်ဟုလည်း ဆိုနိုင်သည်။ မွတ်စ်လင်မ်များကို ရည်ညွှန်းသည်ဟုလည်း ဆိုနိုင်သည်။ အဆိုနှစ်ရပ်စလုံး လာရှိသည်။

ဤအာယတ်တော်နှင့်စပ်လျဉ်း၍ မောင်လာနာအရှ်ရဖ်အလီ ထာနဝီသခင်က ပထမအဆိုကို လက်ခံပြီး အောက်ပါအတိုင်း ဖွင့်ဆိုထားသည်။

"ကာဖိရ်တို့မှုကား ကုရ်အာန်ကျမ်းလာ တရားတော်များကို ကြားနာကြရသော်လည်း မနာခံကြပေ။ နောင်တမလွန်ဘဝအတွက် ပြင်ဆင်မှုတစ်စုံတစ်ရာမျှလည်း မပြုလုပ်ကြပေ။ ၎င်းတို့သည် ဤလောကီဘဝကိုပင် အဓိကထားသော လောကီရေးရာများတွင်သာ နစ်မွန်း၍ နေကြပေသည်။ အမှန်မှာ ဤလောကီဘဝသည် အရိပ်ပမာ သခ်ါရမျှသာဖြစ်သည်။ နောင်တမလွန်ဘဝမှာမူ ဤပစ္စက္ခထက် အတိုင်းမသိ ပိုမိုကောင်းမြတ်လှပေသည်။ အမြဲတစေ တည်ရှိပေမည်။

ဤသည် ကုရ်အာန်ကျမ်းလာ တရားတော်သာလျှင်မဟုတ်၊ တမန်တော် အီဗ်ရာဟီမ်၊ တမန်တော်မူစာတို့၏ အတိတ်ခေတ် ကျမ်းဂန်များတွင်လည်း လာရှိခဲ့ပြီးဖြစ်သော တရားတော်ဖြစ်ပေသည်။ ဤသို့ ကျမ်းအဆောင်ဆောင်တွင် လာရှိသော တရားတော်ကိုပင် မလေးစား မခန့်ညားသော ကာဖိရ်များကား ပျက်စီးခြင်းကြီးမက ပျက်စီးကြရမည်သာတည်း။ ကြည့်-ထာနဝီ။

## ဖုံးလွှမ်းမည့် အရာများကဏ္ဍ

سُورَةُ الْغَاشِيَةِ

ဤကဏ္ဍသည် "ဃာရှိယတ်" ဖုံးလွှမ်းမည့်အရာ၏အကြောင်းသတင်း ပါဝင်သောကဏ္ဍ မည်၏။ မက္ကာမြို့တော်၌ကျရောက်ခဲ့၏။ ဤကဏ္ဍတွင် အာယတ်တော် (၂၆)ပါး ပါရှိ၏။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ

မပြတ်မစဲ သနားကြင်နာ ညှာတာတော်မူသော
မဟာကရုဏာတော်ရှင်ဖြစ်တော်မူသော
အလ္လာဟ်အရှင်မြတ်၏နာမ်တော်ဖြင့် အစပြုပါ၏။

هَلْ اَتٰىكَ حَدِيْثُ الْغَاشِيَةِ ﴿١﴾

၁။ (အို-နဗီတမန်တော် ထိုကမ္ဘာအဝန်းကို) ထိုဖုံးလွှမ်းမည့် အဖြစ်အပျက်၏အကြောင်း သတင်းသည် အသင့်ထံရောက် ရှိခဲ့ပြီမဟုတ်လော။ [1]

وُجُوْهٌ يَّوْمَئِذٍ خَاشِعَةٌ ﴿٢﴾

၂။ ထိုနေ့တွင် များစွာသော(သူတို့၏) မျက်နှာများမှာ ညှိုးငယ်လျက် ရှိကြပေမည်။

عَامِلَةٌ نَّاصِبَةٌ ﴿٣﴾

၃။ ပင်ပန်းကြီးစွာ လုပ်ကိုင်(မှုကြောင့်) မောပန်းလျက် ရှိကြပေမည်။

تَصْلٰى نَارًا حَامِيَةً ﴿٤﴾

၄။ ၎င်းတို့သည် အလျှံပြောင်ပြောင်တောက်လောင်လျက်ရှိသော မီးထဲသို့ ဝင်ရောက်ကြရပေမည်။

تُسْقٰى مِنْ عَيْنٍ اٰنِيَةٍ ﴿٥﴾

၅။ ၎င်းတို့သည် ကျိုက်ကျိုက်ဆူလျက်ရှိသော စမ်းချောင်းတစ်ခုမှ (ရေကို) တိုက်ကျွေးခြင်း ခံကြရပေမည်။

لَيْسَ لَهُمْ طَعَامٌ اِلَّا مِنْ ضَرِيْعٍ ﴿٦﴾

၆။ ၎င်းတို့အဖို့ "ဍဂ္ဂရီအ်" မည်သော ဆူးပင်မှတစ်ပါး အခြားအဟာရဟူ၍ ရှိလိမ့်မည်မဟုတ်ပေ။

---

(၁) ဃာရှိယတ်

"ဃာရှိယတ်" သည် "ဖုံးလွှမ်းသောအရာ" ဟူ၍ အနက်ရသည်။ "ကိယာမတ်" ကို ဆိုလိုသည်။ အဘယ်ကြောင့်ဆိုသော် ကိယာမတ်သည် အရာခပ်သိမ်းကုန်တို့ကို ဖုံးလွှမ်းသွားပေမည်။ ကမ္ဘာအဝန်းသည် ကိယာမတ်၏ ဒဏ်ကို ခံကြရပေမည်။ ကိယာမတ်၏ စက်ကွင်းမှ တစ်ဦးတစ်ယောက်မျှ လွတ်မြောက်မည် မဟုတ်ပေ။

لَّا يُسْمِنُ وَلَا يُغْنِي مِن جُوعٍ ⑦

၇။ ထိုဆူးပင်မှာ (၎င်းတို့အား)ဝဖြိုးစေမည်လည်း မဟုတ်ပေ။ ဆာလောင် မွတ်သိပ်ခြင်းမှ အဆာပြေ ရောင့်ရဲစေမည်လည်း မဟုတ်ပေတကား။ ၁

وُجُوهٌ يَوْمَئِذٍ نَّاعِمَةٌ ⑧

၈။ များစွာသော(သူတို့၏) မျက်နှာများမှာမူကား ထိုနေ့တွင် စိုပြည်ရွှင်လန်းလျက်ပင် ရှိကြပေမည်။

لِّسَعْيِهَا رَاضِيَةٌ ⑨

၉။ (၎င်းတို့သည်) မိမိတို့၏ ကြိုးပမ်းဆောင်ရွက်မှုနှင့်စပ်လျဉ်း၍ နှစ်သက်ကျေနပ်လျက်ရှိကြပေမည်။

فِي جَنَّةٍ عَالِيَةٍ ⑩

၁၀။ မြင့်မြတ်လှစွာသော ဂျန္နတ်သုခဘုံ၌ ရှိကြပေမည်။

لَّا تَسْمَعُ فِيهَا لَاغِيَةً ⑪

၁၁။ ၎င်းတို့သည် ယင်းဂျန္နတ်သုခဘုံ၌ အချည်းနှီးအကျိုးမဲ့ဖြစ်သော စကားကိုကြားကြမည် မဟုတ်ပေ။

فِيهَا عَيْنٌ جَارِيَةٌ ⑫

၁၂။ ယင်းဂျန္နတ်သုခဘုံ၌ စီးတွေလျက်ရှိသော စမ်းချောင်းတစ်ခုရှိ၏။

فِيهَا سُرُرٌ مَّرْفُوعَةٌ ⑬

၁၃။ ယင်းဂျန္နတ်သုခဘုံ၌ မြင့်စွင့်သော သလွန်များရှိကြပေသည်။

وَأَكْوَابٌ مَّوْضُوعَةٌ ⑭

၁၄။ ၎င်းပြင် သောက်ရေဖလားများသည်လည်း စီထားလျက် ရှိကြပေသည်။

---

① **ကိယာမတ်နေ့တွင် ကာဖိရ်များ၏ဖြစ်အင်။**

ကိယာမတ်နေ့တွင် ကာဖိရ်များသည် မျက်နှာညှိုးငယ်လျက် ရှိကြပေမည်။ မဟ်ရှရ် ကွင်းပြင်ကြီးတွင် ပူပန်သောကဖြစ်ကာ သွားလာရခြင်း၊ ငရဲတွင် ပင်ပန်းကြီးစွာ သံကြိုး၊ လက်ထိပ်၊ ခြေကျင်း၊ လယ်ကွင်း စသည်များကို သယ်ပိုးရခြင်း၊ ငရဲတောင်များသို့ တက်ရခြင်းများကြောင့် မောပန်းလျက်ရှိကြပေမည်။ ထို့ပြင်တဝ အလျှံပြောင်ပြောင် တောက်လောင်လျက်ရှိသော ငရဲမီးသို့ လားကြရပေမည်။ ရေသောက်လိုကြသည့်အခါ ကျိုက်ကျိုက်ဆူလျက်ရှိသော စမ်းရေအတိုက်ခံကြရပေမည်။ ထမင်းစားလိုကြသည့်အခါ "ဍရီအ်" အမည်ရှိ အတိုင်းမသိ ပုပ်စော်နံသော၊ အတိုင်းမသိ ပူလောင်သော၊ အတိုင်းမသိ ခါးသောဆူးပင် အကျွေးခံကြရပေမည်။ ထိုသည့် ဆူးပင်ကို စားသုံးခြင်းဖြင့် တစ်စုံတစ်ရာ အားအင်ဖြစ်လာမည်လည်း မဟုတ်၊ အဆာပြေမည်လည်း မဟုတ်။ ဒုက္ခသည် ပို၍ပို၍ပင် များပြားကြီးမားလာပေမည်။ ဤကား ကာဖိရ်တို့၏ ဖြစ်အင်တည်း။

وَّنَمَارِقُ مَصْفُوفَةٌ ﴿١٥﴾
၁၅။ ထို့ပြင် ကော်ဇောများသည်လည်း စနစ်တကျ ခင်းကျင်းထားလျက် ရှိကြပေသည်။

وَّزَرَابِيُّ مَبْثُوثَةٌ ﴿١٦﴾
၁၆။ ထိုမှတပါး မှီအုံးများသည်လည်း အနှံ့အပြား ခင်းထားလျက် ရှိကြပေမည်။ [၁]

اَفَلَا يَنْظُرُوْنَ اِلَى الْاِبِلِ كَيْفَ خُلِقَتْ ﴿١٧﴾
၁၇။ အသို့ပါနည်း ကုလားအုတ်များသည် အဘယ်ကဲ့သို့ ဖန်ဆင်းခြင်း ခံခဲ့ကြရသည်ကို ၎င်းတို့သည် ကြည့်ရှုလေ့လာ ဆင်ခြင်သုံးသပ်ခြင်း မပြုကြလေသလော။

وَاِلَى السَّمَاۤءِ كَيْفَ رُفِعَتْ ﴿١٨﴾
၁၈။ ထိုနည်းတူစွာ မိုးကောင်းကင်သည် အဘယ်ကဲ့သို့ မြင့်စွင့်စေခြင်းကို ခံခဲ့ရသည်ကိုလည်းကောင်း။

وَاِلَى الْجِبَالِ كَيْفَ نُصِبَتْ ﴿١٩﴾
၁၉။ ထို့အတူ တောင်များသည် အဘယ်ကဲ့သို့ စိုက်ထူခြင်းကို ခံခဲ့ကြရသည်ကိုလည်းကောင်း။

وَاِلَى الْاَرْضِ كَيْفَ سُطِحَتْ ﴿٢٠﴾
၂၀။ ထိုမှတပါး ပထဝီမြေသည် အဘယ်ကဲ့သို့ ခင်းကျင်းထားခြင်း ခံခဲ့ရသည်ကိုလည်းကောင်း၊ (ကြည့်ရှုလေ့လာ ဆင်ခြင်သုံးသပ်ခြင်းမပြုကြလေသလော၊)[၂]

---

(၁) **ကိယာမတ်တွင် မုအ်မင်န်တို့၏ဖြစ်အင်။**

ကိယာမတ်တွင် မုအ်မင်န် သူတော်စင်များသည် မျက်နှာရွှင်လန်း စိုပြည်လျက် ရှိကြပေမည်။ မိမိတို့ ကုသိုလ်ကောင်းမှုများ ဆည်းပူး နိုင်ခဲ့ကြသည့်အတွက် ကျေနပ်နှစ်သက် ဝမ်းသာလျက် ရှိကြပေမည်။ ၎င်းတို့သည် အတိုင်းမသိ မြင့်မြတ်လှသော ဂျန္နတ်ဥယျာဉ်မြတ်တွင် စံစားလျက်ရှိကြပေမည်။ ယင်းဂျန္နတ်တွင် ဟဒယနလုံး ရွှင်ပြုံးစေမည့် သာယာချိုအေးသော သံသာထူးများမှတပါး မချေမင် မသာယာသော စကားကို အလျင်းကြားကြရမည်မဟုတ်ပေ။ ကြည့်-ကုရ်အာန် (၁၉း၆၂။ ၅၂း၂၃။ ၅၆း၂၅-၂၆။ ၇၈း၃၅)။

ယင်းဂျန္နတ်တွင် အလျဉ်တွေတွေ စီးဆင်းလျက်ရှိသော စမ်းချောင်း(များ)လည်း ရှိပေမည်။ လဲလျောင်းရန် မြင့်သောသလွန်များလည်း ရှိပေမည်။ သောက်သုံးရန် ရေဖလားများလည်း ရှိပေမည်။ စနစ်တကျ ခင်းထားသော ဖုံများလည်း ရှိပေမည်။ အနှံ့အပြား ခင်းကျင်းထားသော အခင်းကဇ္ဇလာများ လည်းရှိပေမည်။

ဆိုလိုသည်ကား ဂျန္နတ်တွင် မုအ်မင်န် သူတော်စင်များသည် အတိုင်းမသိသော သုခချမ်းသာ အဖြာဖြာတို့ကို လိုလေသေးမရှိရှိကာ ချမ်းသာခြင်းကြီးမက ချမ်းသာ၍ အောင်မြင်ခြင်းကြီးမက အောင်မြင်လျက် ရှိကြပေမည်။ (အလ္လာဟ်အရှင်မြတ်သည် ကျွန်တော်မျိုးတို့အား ထိုသည့် ဂျန္နတ်သုခကို ချီးမြှင့်တော်မူသည် ဖြစ်ပါစေသတည်း)။

فَذَكِّرْ إِنَّمَا أَنتَ مُذَكِّرٌ ﴿٢١﴾

၂၁။ သို့ဖြစ်ပေရာ အသင်သည် ဆုံးမလျက် ရှိပါလေ။ အသင်သည် ဆုံးမသူတစ်ဦးမျှသာဖြစ်ပေသည်။

لَّسْتَ عَلَيْهِم بِمُصَيْطِرٍ ﴿٢٢﴾

၂၂။ အသင်သည် ၎င်းတို့အပေါ်၌ စောင့်ကြပ်အုပ်ထိန်းသူ မဟုတ်ပေ။ ³

---

(၂) အလ္လာဟ်အရှင်မြတ်သည် အထက်၌ ပါရှိခဲ့သည့်အတိုင်း ကိယာမတ်နေ့တွင် ကာဖိရ်များအဖို့ ကြောက်ဖွယ်ရာ ပြစ်ဒဏ်များနှင့် မုအ်မင်န်များအဖို့ ဂျန္နတ်သုခဘုံများကို အသင့် စီစဉ်ထားတော်မူပြီး ဖြစ်သည်။ သို့ပါလျက် ကာဖိရ်များသည် ကိယာမတ်ကို မယုံကြည်ကြပေ။ သို့မယုံကြည်ခြင်းမှာ မယုံကြည်သူတို့၏ အပြစ်သာ ဖြစ်ပေသည်။ မိမိတို့၏ ပတ်ဝန်းကျင်ကို မစဉ်းစား မဆင်ခြင်၍သာဖြစ်ပေသည်။

အလ္လာဟ်အရှင်မြတ်သည် ပုံပန်းသဏ္ဌာန်၊ အနေအထား၊ တမူထူးခြား ဆန်းပြားလှသည့် ကုလားအုတ်များကို အံ့ဖွယ်သရဲ မည်သို့မည်ပုံ ဖန်ဆင်းထားတော်မူသည်၊ ထိုအရှင်မြတ်သည် အတိုင်းမသိ မြင့်စွင့်လှသည့် မိုးကောင်းကင်များကို မည်သို့မည်ပုံ ဖန်ဆင်းထားတော်မူသည်၊ အတိုင်းမသိ ကြီးမားလှသည့် တောင်ကြီးများကို မည်သို့မည်ပုံ စိုက်ထူထားတော်မူသည်၊ အတိုင်းမသိ ကျယ်ပြန့်လှသည့် ပထဝီမြေကြီးကို မည်သို့မည်ပုံ ခင်းကျင်းထားတော်မူသည်များကို ကိယာမတ်ကို မယုံကြည်သော ယင်းကာဖိရ်များသည် စဉ်းစားဆင်ခြင် မြော်မြင်၍ မကြည့်ကြလေသလော။

နေ့စဉ်နှင့်အမျှ တွေ့မြင်နေကြရသော ဤသည့်အရာများကိုပင် စဉ်းစားဆင်ခြင် မြော်မြင်ကြည့်ရှုပါက အလ္လာဟ်အရှင်မြတ်၏ တန်ခိုးတော်ကို သိမြင်လာကြပေမည်။ သေပြီးနောက်တဖန် ရှင်ပြန်ထရမည့်အရေးကို ယုံကြည်လာကြပေမည်။ ကိယာမတ်ကို လက်ခံလာကြပေမည်။

ဤအာယတ်တော်တွင် ဖော်ပြပါ လေးခုသောအရာကို အထူးတလည် ထုတ်ဖော်မိန့်ကြားတော်မူခြင်းမှာ ကုရ်အာန်ကျမ်းမြတ်ကို ဦးစွာပထမ ကြားနာကြရကုန်သော အရဗ်လူမျိုးတို့သည် များသောအားဖြင့် ကုလားအုတ်များကို စီးနင်း၍ "ဆဟာရ" သဲကန္တာရများ၊ တောတောင်များတွင် သွားလာလေ့ရှိခဲ့ကြပေသည်။ သို့သွားလာရာတွင် ၎င်းတို့သည် မိမိတို့အနီးတွင် ကုလားအုတ်များ၊ အထက်တွင် မိုးကောင်းကင်များ၊ အောက်တွင်မြေကြီးများ၊ ပတ်ဝန်းကျင်တွင် တောင်ကြီးများကို အမြဲတစေတွေ့မြင်နေခဲ့ကြရပေသည်။ ထို့အတွက် ၎င်းတို့အား ၎င်းတို့ အမြဲတစေ တွေ့မြင်နေကြရသော အရာများကိုပင် စဉ်းစားဆင်ခြင် မြော်မြင်ရန် မိန့်ကြားထားတော်မူခြင်း ဖြစ်ပေသည်။

(၃) ထင်ရှားသော သက်သေသာဓက အထောက်အထားများ ရှိပါလျက်နှင့် မစဉ်းစားမဆင်ခြင်ကြပါလျှင်၊ အမှန်တရားကို သွေဖည်နေကြပါလျှင် တမန်တော်မြတ်သည် ထိုသို့သောသူများနှင့် ပတ်သက်၍ အထူးစဉ်းစားနေတော်မူရန်မလိုပေ၊ ပူပန်သောက ဖြစ်နေတော်မူရန် မလိုပေ၊ စိတ်ဒုက္ခဖြစ်နေတော်မူရန် မလိုပေ။ မိမိ၌ တာဝန်ရှိသည်နှင့်အမျှ သွန်သင်ဆုံးမ နားချတော်မူရန်သာ ရှိပေသည်။ တမန်တော်မြတ်သည် သွန်သင်ဆုံးမ သြဝါဒပေးရန် စေလွှတ်တော်မူခြင်းခံရသော တမန်တော်တစ်ပါးသာ ဖြစ်တော်မူသည်။ စောင့်ကြပ်ထိန်းသိမ်းသော တာဝန်ခံ အအုပ်အထိန်း အစောင့်အကြပ် မဟုတ်ပေရာ၊ တရားမရ ရအောင်၊ မနာခံ နာခံအောင်၊ မလိုက်နာ လိုက်နာအောင် အတင်းအဓမ္မ ပြုပြင်ပြောင်းလဲရန် မလိုပေ။ ကြည့်-ကုရ်အာန် (၃း၁၉။ ၅း၉၂။ ၅း၉၉။ ၁၃း၄၀။ ၁၆း၃၅။ ၁၆း၈၂။ ၂၄း၅၄။ ၂၉း၁၈။ ၃၆း၁၇။ ၄၂း၄၈။ ၅၀း၄၅။ ၆၄း၁၂)။

إِلَّا مَن تَوَلَّىٰ وَكَفَرَ ﴿٢٣﴾

၂၃။ သို့ရာတွင် မည်သူမဆို မျက်နှာလွှဲခဲ့လျှင်လည်းကောင်း၊ သွေဖည်ငြင်းပယ်ခဲ့လျှင်လည်းကောင်း၊

فَيُعَذِّبُهُ اللَّهُ الْعَذَابَ الْأَكْبَرَ ﴿٢٤﴾

၂၄။ အလ္လာဟ်အရှင်မြတ်သည် ထိုသူအား ကြီးလေးလှစွာသောပြစ်ဒဏ်ကို ပေးတော်မူမည်သာ ဖြစ်ပေသည်။

إِنَّ إِلَيْنَا إِيَابَهُمْ ﴿٢٥﴾

၂၅။ ကေန်မလွဲ ၎င်းတို့သည် ငါအရှင်မြတ် အထံတော်သို့ပင် ပြန်လည်ရောက်ရှိကြရမည် ဖြစ်ပေသည်။

ثُمَّ إِنَّ عَلَيْنَا حِسَابَهُم ﴿٢٦﴾

၂၆။ ထို့နောက် ၎င်းတို့အား စစ်ဆေးမေးမြန်းခြင်းသည် ငါအရှင်မြတ်၏တာဝန်ပင်ဖြစ်ပေသတည်း။ [၁]

---

(၁) သွန်သင်ဆုံးမ ညွှန်ပြပေးပါလျက်၊ သွေဖည်ကျောခိုင်းသော သူများကိုမူ အလ္လာဟ်အရှင်မြတ်သည် ကြီးလေးသောပြစ်ဒဏ် ခတ်တော်မူမည်သာဖြစ်သည်။ အဘယ်ကြောင့်ဆိုသော် ထိုသူများသည် တစ်ရက် ထိုအရှင်မြတ်၏ ရှေ့တော်မှောက်သို့ ရောက်ကြရမည်သာ ဖြစ်သည်။ ထိုအရှင်မြတ်သည် အသီးသီးတို့အား အတိအကျ စစ်ဆေးမေးမြန်း၍ ကျိုးပြစ်ပေးတော်မူမည်သာ ဖြစ်ပေသတည်း။

## မိုးသောက်ချိန်ကဏ္ဍ

سُوْرَةُ الْفَجْرِ

ဤကဏ္ဍသည် "ဖဂျ်ရ်" မိုးသောက်ချိန် ကဏ္ဍမည်၏။ မက္ကာမြို့တော်တွင် ကျရောက်ခဲ့၏။ ဤကဏ္ဍတွင် အာယတ်တော် (၃၀)ပါး ပါရှိ၏။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ

မပြတ်မစဲ သနားကြင်နာ ညှာတာတော်မူသော မဟာကရုဏာတော်ရှင်ဖြစ်တော်မူသော အလ္လာဟ်အရှင်မြတ်၏နာမံတော်ဖြင့် အစပြုပါ၏။

وَالْفَجْرِ ①

၁။ (ငါအရှင်မြတ်သည်) နံနက်မိုးသောက်ချိန်ကို သက်သေထူတော်မူ၏။

وَلَيَالٍ عَشْرٍ ②

၂။ ၎င်းပြင် (ငါအရှင်မြတ်သည်) ဆယ်ခုသော ညဥ့်ကို သက်သေထူတော်မူ၏။

وَّالشَّفْعِ وَالْوَتْرِ ③

၃။ ထို့ပြင် (ငါအရှင်မြတ်သည်) စုံ(ဖြစ်သော အရာ)ကိုလည်းကောင်း၊ မ(ဖြစ်သောအရာ)ကိုလည်း ကောင်း၊ သက်သေထူတော်မူ၏။

وَالَّيْلِ اِذَا يَسْرِ ④

၄။ ထိုမှတပါး (ငါအရှင်မြတ်သည်) ညဥ့်ကို သက်သေထူတော်မူ၏။ အကြင်အခါ၀ယ် ထိုညဥ့် သည် သွားလေ၏။ [၁]

---

① ဤအာယတ်တော်တွင် အလ္လာဟ်အရှင်မြတ်သည် ထူးကဲသောအချိန် ငါးခုကို သက်သေထူ၍ စကားပလ္လင် အဖြစ် မိန့်ကြားထားတော်မူသည်။

**(၁) မိုးသောက်ချိန်**

မောင်လာနာရှာဟ်အဗ်ဒုလ်ကာဒရ်၏ ဖွင့်ဆိုချက်အရ "မိုးသောက်ချိန်"ဟူသည် ဇီလ်ဟိဂ်ျဂျဟ်လ (၁၀) ရက်နေ့၏ မိုးသောက်ချိန်ကို ဆိုလိုသည်။ ထိုနေ့ နံနက်တွင် အီဒုလ်အသ္ဟာခေါ် အစ္စလာမ် သာသနာ့ ပွဲတော်ကြီး ရှိပေသည်။

**(၂) ၁၀- ညဥ့်**

ဆယ်ညဥ့်ဟူသည် ဇီလ်ဟိဂ်ျဂျဟ်လ၏ ပထမဆယ်ရက်၏ ညဥ့် (၁၀) ညဥ့်ကို ဆိုလိုသည်။

**(၃-၄) စုံနှင့်မ**

စုံနှင့်မဟူသည် ရမသွာန်လမြတ်၏နောက်ဆုံး(၁၀)ညဥ့်ရှိ စုံ၊မဖြစ်သော ညဥ့်များကို ဆိုလိုသည်၊ ➤➤

هَلۡ فِي ذَٰلِكَ قَسَمٞ لِّذِي حِجۡرٍ ۝٥

၅။ ဤသည်တို့၌ ဉာဏ်အမြော်အမြင် ပြည့်စုံသောသူ၏အဖို့ ခိုင်မာလုံလောက်သော ကျိန်ဆိုချက် ရှိသည်မဟုတ်လော။ [၁]

➤➤ (၅) ညဥ့်သွားသောအခါ

ညဥ့်သွားသောအခါဟူသည် မိအ်ရာဂျ်ညဥ့်တွင် တမန်တော်မြတ် ကြွမြန်းသွားတော်မူသည့်အချိန်ကို ဆိုလိုသည်။

ဖော်ပြပါအချိန်များသည် မင်္ဂလာရှိသော၊ ထူးကဲမြင့်မြတ်သော အချိန်များသာဖြစ်သည်။ ထို့အတွက် အလ္လာဟ်အရှင်မြတ်သည် ထိုအချိန်များကို သက်သေထူ၍ မိန့်ဆိုထားတော်မူခြင်းဖြစ်ပေသည်။

**မှတ်ချက်။**

ယေဘုယျအားဖြင့် မုဖတ်စ်စိရ်များက **"ဝလ်လိုင်လေ အဇာယဆ်ရေ"** ဟူသော အာယတ်တော်ကို ညဥ့်ကုန်သွားခြင်း၊ သို့မဟုတ် ညဥ့်၏အမှောင် ပျံ့နှံ့သွားခြင်းဟူ၍ အနက်ဖွင့်ကြပေသည်။ ဆိုလိုသည်မှာ အလ္လာဟ်အရှင်မြတ်သည် စုံနှင့်မကို ဆန့်ကျင်ဘက် ယှဉ်တွဲသက်သေ ထူထားတော်မူသကဲ့သို့ မိုးသောက်ချိန်နှင့် ညဥ့်၏သွားခြင်း သို့မဟုတ် လာခြင်းကို ဆန့်ကျင်ဘက် ယှဉ်တွဲ သက်သေထူထားတော်မူခြင်း ဖြစ်ပေသည်။

ထို့အတူ ဆယ်ညဥ့်ဟူသည် သီးသန့် ဆယ်ညဥ့်ကို ဆိုလိုသည်မဟုတ်ဘဲ ဓမ္မမိဋ္ဌာန်အားဖြင့် မည်သည့် ဆယ်ညဥ့်ကိုမဆို ဆိုလိုသည်လည်း ဖြစ်နိုင်ပေသည်။ ယင်းသို့ဖြစ်လျှင် ဆယ်ညဥ့်များတွင်လည်း ဆန့်ကျင်ဘက်ကို တွေ့ရှိရပေသည်။ ဥပမာ-လ၏ပထမ ဆယ်ညဥ့်သည် အစတွင် လင်းသည်၊ ထို့နောက် မှောင်သည်။ လ၏နောက်ဆုံး ဆယ်ညဥ့်သည် အစတွင် မှောင်သည်၊ ထို့နောက် လင်းသည်။ လ၏အလယ် ဆယ်ညဥ့်သည် လ၏ ပထမဆယ်ညဥ့်၊ နောက်ဆုံး ဆယ်ညဥ့်နှင့် မတူပေ။ ဤသို့အားဖြင့် လ၏ဆယ်ညဥ့် များတွင်လည်း ဆန့်ကျင်ဘက်ဖြစ်မှုကို တွေ့ရှိရပေသည်။

ဆိုလိုသည်ကား ဤသည့်ဆန့်ကျင်မှုများကို စကားပလ္လင်အဖြစ် ညွှန်ပြကာ လူသားတို့သည် မိမိတို့၌ ဒုက္ခသော်လည်းကောင်း၊ သုခသော်လည်းကောင်း၊ ချောင်လည်မှုသော်လည်းကောင်း၊ ကျပ်တည်းမှုသော် လည်းကောင်း အခြေအနေတစ်ခုခု ဆိုက်ရောက်လာလျှင် ထိုသည့် အခြေအနေသည် အမြဲထာဝစဉ်တည်၍နေမည်၊ ထိုသည့် အခြေအနေနှင့်ဆန့်ကျင်ဘက် အခြေအနေပေါ်လာတော့မည် မဟုတ်ဟူ၍ကား ထင်မှတ်မနေအပ်ကြောင်း သတိပေးထားတော်မူခြင်းပင် ဖြစ်ပေသည်။

လူသားတို့ သိထားအပ်သည်မှာ အလ္လာဟ်အရှင်မြတ်သည် ဆန့်ကျင်ဘက်များကို ဖန်ဆင်းထားတော် မူသော အရှင်ဖြစ်တော်မူသည်။ ထိုအရှင်မြတ်သည် စကြာဝဠာကြီးတွင် (နေ့နှင့်ညဥ့်၊ အလင်းနှင့်အမှောင်၊ အအေးနှင့်အပူစသည်ဖြင့်) ဆန့်ကျင်ဘက်များကို ဖန်ဆင်းထားတော်မူသကဲ့သို့ လူသားတို့၌လည်း ဘဝအခြေအနေ များကို မိမိ၏အလုံးစုံကို အကြွင်းမဲ့သိတော်မူသော ဉာဏ်တော်ဖြင့် အမျိုးမျိုး ပြောင်းလဲပေးတော်မူသည်။ ရှေ့၌ ဤကဏ္ဍတွင် ပါရှိသော အကြောင်းများမှာလည်း ဤသည့်သဘောအရပင်ဖြစ်ပေသည်။

ဤအာယတ်တော်လာ ပုဒ်များကို ဖွင့်ဆိုရာတွင် အဆိုအမျိုးမျိုး တွေ့ရှိရပေသည်။ အကျယ်သိလိုပါက အိဗ်နူဂျရီရ်၊ အိဗ်နူကဆီရ်၊ ခါဇင်ကျမ်းများတွင် ရှုပါကုန်။

(၁) အထက်တွင် အလ္လာဟ်အရှင်မြတ် သက်သေထူ မိန့်ကြားတော်မူသော ကျိန်ဆိုချက်များသည် သာမန်မဟုတ်၊ အလွန်အရေး ပါလှသည်။ လေးနက်လှသည်။ ယင်းသည့် ကျိန်ဆိုချက်များကို စကားပလ္လင်အဖြစ် ➤➤

၆။ (အို-နဗီတမန်တော်) အသင့်အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်သည် "အာဒ်"အမျိုးသားတို့အား မည်သို့ ပြုလုပ်တော်မူခဲ့သည်ကို အသင်သိမြင်ခဲ့ပြီမဟုတ်လော။

أَلَمْ تَرَ كَيْفَ فَعَلَ رَبُّكَ بِعَادٍ ۝٦

၇။ အရပ်အမောင်းထွားကျိုင်းသော၊ တိုင်ရှည်ကြီးများ၏ပိုင်ရှင်ဖြစ်ကြသော "အိရမ်"(၏အဆက်အနွယ်)အား။

إِرَمَ ذَاتِ الْعِمَادِ ۝٧

၈။ (ကမ္ဘာပေါ်ရှိ) မြို့ရွာများတို့တွင် (မည်သူမျှပင်) ၎င်းတို့ကဲ့သို့ ဖန်ဆင်းခြင်းခံခဲ့ရသည်မဟုတ်ပေ။

الَّتِي لَمْ يُخْلَقْ مِثْلُهَا فِي الْبِلَادِ ۝٨

၉။ "ဝါဒစ်လ်ကုရာ" အရပ်၌ ကျောက်ဆောင်များကို ထွင်းခဲ့ကြသော "ဆမူဒ်" အမျိုးသားတို့အား (မည်ကဲ့သို့ပြုလုပ်တော်မူခဲ့သည်ကို)လည်းကောင်း။

وَثَمُودَ الَّذِينَ جَابُوا الصَّخْرَ بِالْوَادِ ۝٩

၁၀။ ငုတ်များ၏ပိုင်ရှင်ဖြစ်သော 'ဖစ်ရ်အောင်န်' အား(မည်ကဲ့သို့ပြုလုပ်တော်မူခဲ့သည်ကို)လည်းကောင်း။

وَفِرْعَوْنَ ذِي الْأَوْتَادِ ۝١٠

၁၁။ အကြင်သူတို့သည် တိုင်းပြည်များတွင် ဆိုးသွမ်းခဲ့ကြကုန်၏။

الَّذِينَ طَغَوْا فِي الْبِلَادِ ۝١١

၁၂။ ထို့နောက် ၎င်းတို့သည် ထိုတိုင်းပြည်များတွင် ပျက်စီးရာပျက်စီးကြောင်းကို များစွာ ပြုလုပ်ခဲ့ကြကုန်၏။

فَأَكْثَرُوا فِيهَا الْفَسَادَ ۝١٢

၁၃။ သို့ဖြစ်ပေရာ အသင့်အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်သည် ၎င်းတို့အပေါ်၌ ပြစ်ဒဏ်၏ကျာပွတ်၊ ပြစ်ဒဏ်တစ်မျိုးကို သွန်းချတော်မူခဲ့၏။

فَصَبَّ عَلَيْهِمْ رَبُّكَ سَوْطَ عَذَابٍ ۝١٣

➤➤ ကျိန်ဆို မိန့်ကြားထားတော်မူသည့်အတွက် မိန့်ကြားတော်မူအံ့သော အာယတ်တော်များသည် အဘယ်မျှလေးနက်လာသည်ကို ဉာဏ်ပညာ အမြော်အမြင်ရှိသူများသည် ကောင်းစွာ သိရှိနိုင်ကြပေသည်။

إِنَّ رَبَّكَ لَبِالْمِرْصَادِ ⑭

၁၄။ ဧကန်မလွဲ အသင့်အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်သည် တပ်ပုန်းချထားရာအရပ်၌ ချောင်းမြောင်းလျက် စောင့်ကြည့်လျက် ရှိတော်မူပေသတည်း။ ၁

---

① **အလ္လာဟ်အရှင်မြတ်သည် စောင့်ကြည့်လျက် ရှိတော်မူသည်။**

လူတစ်ယောက်သည် ချောင်းမြောင်းရာအရပ်၌ ပုန်းကွယ်၍ ကင်းပုန်းကဲ့သို့ သွားလာသူတို့အား မျက်ခြည်မပြတ် စောင့်ကြည့်နေ၏။ မည်သူသွားသည်၊ မည်သူလာသည်၊ အဘယ်ကြောင့်သွားသည်၊ အဘယ်ကြောင့်လာသည်၊ အဘယ်ပစ္စည်းယူလာသည်၊ အဘယ်ပစ္စည်းယူသွားသည်၊ အဘယ်အရာလုပ်လာသည်၊ အဘယ်အရာလုပ်သွားသည် စသည်တို့ကို စလယ်ဆုံး သိမြင်နေ၏။ မှတ်သားနေ၏။ ထိုသူသည် အရေးပေါ်လာသည့်အခါ မိမိသိမြင်မှတ်သားထားသည့်အတိုင်း အတိအကျ အရေးယူ ဆောင်ရွက်နိုင်၏။

ထို့အတူ အလ္လာဟ်အရှင်မြတ်သည် လူသားတို့၏အမြင်မှ ကွယ်ဝှက်ကာ လူသားတို့ ကျင့်ကြံပြုမူနေကြသည်များကို စောင့်ကြည့်နေတော်မူ၏၊ အရာခပ်သိမ်းကုန်တို့ကို အကြွင်းမဲ့သိတော်မူ၏၊ မြင်တော်မူ၏၊ ကြားတော်မူ၏၊ သို့တစေလည်း ထိုအရှင်မြတ်သည် မဟာကရုဏာတော်ရှင်၊ တရားမျှတတော် မူသောအရှင်ဖြစ်တော်မူပေရာ၊ အပြစ်ရှိသူတို့အား ချက်ခြင်းလက်ငင်း အရေးယူတော် မူလေ့မရှိပေ။ နောင်တတရားရစိမ့်သောငှာ အချိန်အတန်ကြာ လျစ်လျူရှုထားတော်မူလေ့ရှိပေသည်။

သို့ချက်ချင်းလက်ငင်း ပြစ်ဒဏ်ပေးတော်မမူဘဲ ခေတ္တလျစ်လျူရှု ထားတော်မူသည်ကို သဘောမပေါက်သော၊ နားမလည်သော၊ အမှုမဲ့အမှတ်မဲ့နေသော အချို့လူသားတို့က ငါတို့ ကျင့်ကြံ ပြုမူနေကြသည်များကို မည်သူမျှမမြင်၊ မသိ၊ ငါတို့အား အရေးယူမည့်သူ တစ်ဦးတစ်ယောက်မျှမရှိဟု ထင်မြင်ယူဆကာ ဆိုးမိုက်မြဲတိုင်း ဆိုးမိုက်နေကြလေသည်။ နောက်ဆုံးတွင် အလွန်အကျွံ စည်းမဲ့ကမ်းမဲ့ ဖြစ်လာကြပြီး လျစ်လျူရှုရန် အကြောင်းမရှိတော့သည့်အဆုံးတွင် အလ္လာဟ်အရှင်မြတ်သည် ထိရောက်စွာ အတိအကျ အရေးယူတော်မူလေသည်။ ထိုအခါ ထိုသို့သော လူသားတို့သည် အကြောင်းသိသွားကြလေသည်။ ပျက်စီးခြင်းကြီးမက ပျက်စီးကြရလေသည်။

ထိုအခါကျမှ "သြော်-ငါတို့အား အပြစ်ရှိသည့်အလျောက် ချက်ခြင်းအရေးယူတော်မမူခြင်းမှာ ငါတို့အား စမ်းသပ်တော်မူခြင်းပါတကား၊ ငါတို့အား လျစ်လျူရှုထားတော်မူခြင်းပါတကား" ဟု သိရှိကာ နောင်တရကြလေသည်။ သို့ရာတွင် ထိုအချိန်ကျမှ နောင်တရခြင်းကား အကျိုးမရှိတော့ပြီ။

ထို့အတွက် လူသားတို့သည် အမှုမဲ့အမှတ်မဲ့ မနေကြရာ၊ နောင်ရေးကို မေ့မနေကြရာ။ အလ္လာဟ်အရှင်မြတ်သည် အခါခပ်သိမ်း စောင့်ကြည့်တော်မူလျက်ရှိသည်ကို အမြဲနှလုံးသွင်းထားကြရာ သတည်း။

အတိတ်ခေတ် အာဒ်၊ ဆမူဒ်၊ ဖစ်ရ်အောင်န်တို့သည် ယင်းသို့ အမှုမဲ့ အမှတ်မဲ့နေကာ စည်းမဲ့ကမ်းမဲ့ သွေဖည်ဆိုးသွမ်းမိုက်မဲ၍ ကမ္ဘာမြေပြင်တွင် ဆူပူသောင်းကျန်းခဲ့ကြသည့်အတွက် နောက်ဆုံးတွင် အလ္လာဟ်အရှင်မြတ်၏ ကွပ်မျက်တော်မူခြင်းကို ခံသွားခဲ့ကြရပေသည်။ ယနေ့လည်း ၎င်းတို့၏လမ်းစဉ်ကို လိုက်သောသူများသည် ၎င်းတို့ကဲ့သို့ပင် နောက်ဆုံးတွင် အလ္လာဟ်အရှင်မြတ်၏ ကွပ်မျက်တော်မူခြင်းကို မလွဲဧကန်အမှန် ခံကြရမည်ကို ကြီးစွာသတိပြုကြရပေမည်။ "အလ္လာဟ်အရှင်မြတ်သည် စောင့်ကြည့်လျက်ရှိတော်မူသည်"။

فَأَمَّا الْإِنسَانُ إِذَا مَا ابْتَلَاهُ رَبُّهُ فَأَكْرَمَهُ وَنَعَّمَهُ فَيَقُولُ رَبِّي أَكْرَمَنِ ﴿١٥﴾

၁၅။ သို့ပါလျက် မည်သို့ပင်ဖြစ်စေ၊ (ကာဖိရ်) လူသားမှာမူကား ၎င်း၏အရှင်မြတ်က ၎င်းအား စမ်းသပ်တော်မူသောအခါ ထိုအရှင်မြတ်သည် ၎င်းအား ဂုဏ်အသရေချီးမြှင့်တော်မူ၏။ ထို့ပြင် ၎င်းအား ကျေးဇူးပြုတော်မူ၏။ ထိုအခါ ၎င်းက ကျွန်ုပ်၏ အရှင်မြတ်သည် ကျွန်ုပ်အား ဂုဏ်အသရေ ချီးမြှင့်တော်မူခဲ့သည်ဟု ပြောဆိုလေ့ရှိ၏။

وَأَمَّا إِذَا مَا ابْتَلَاهُ فَقَدَرَ عَلَيْهِ رِزْقَهُ فَيَقُولُ رَبِّي أَهَانَنِ ﴿١٦﴾

၁၆။ သို့ရာတွင် မည်သို့ပင်ဖြစ်စေ၊ ထိုအရှင်မြတ်သည် ၎င်းအား (တစ်နည်း) စမ်းသပ်တော်မူပြန်သောအခါ ၎င်း၏အပေါ်၌ ၎င်း၏စားနပ်ရိက္ခာကို ကျပ်တည်းစေတော်မူ၏။ ထိုအခါ ၎င်းက ကျွန်ုပ်၏ အရှင်မြတ်သည် ကျွန်ုပ်အား ဂုဏ်အသရေ ဖျက်တော်မူခဲ့သည်ဟု ပြောဆိုလေ့ရှိပေသည်။ [၁]

---

(၁) **ကျေးဇူးမသိတတ်သောလူသား။**

ကျေးဇူးမသိတတ်သော လူသား၏အဖြစ်သည် အံ့သြဖွယ်ပင်။ အလ္လာဟ်အရှင်မြတ်သည် လူသားအား ပေး၍တစ်နည်း၊ ပြန်လည်ရုပ်သိမ်း၍တစ်ဖုံ၊ နည်းမျိုးစုံဖြင့် စမ်းသပ်တော်မူသည်။ တစ်ခါတစ်ရံ ထိုအရှင်မြတ်သည် လူသားအား ရာထူး၊ ဌာနန္တရ၊ ဥစ္စာပစ္စည်း စသည်များကို ချီးမြှင့်တော်မူသည်။ ယင်းသို့ ချီးမြှင့်တော်မူခြင်းမှာ လူသားသည် ယင်းသည့်ကျေးဇူးတော်များကို ရရှိခံစားရသည့်အတွက် ကျေးဇူးတော်ရှင်အား ကျေးဇူးသိတတ်သည်၊ မသိတတ်သည်ကို စမ်းသပ်တော်မူရန်ပင်ဖြစ်စေသတည်း။

ကျေးဇူးမသိတတ်သော လူသားသည် မိမိအား အလ္လာဟ်အရှင်မြတ် ချီးမြှင့်ထားတော်မူသော ကျေးဇူးတော်များနှင့်စပ်လျဉ်း၍ ဤသည် မိမိ၏ကျွမ်းကျင်လိမ္မာပါးနပ်မှု၊ ကြိုးပမ်းမှု၏ အကျိုးသာ ဖြစ်သည်၊ မိမိနှင့်ထိုက်တန်၍ မိမိအား မိမိ၏အရှင်က ချီးမြှင့်တော်မူခြင်းသာ ဖြစ်သည်ဟူ၍ပင် ကျေးဇူးကန်းကာ မိုက်မဲစွာဆိုလေသည်။ "ကာရူန်"သည်လည်း ဤအတိုင်း ဆိုခဲ့ချေသည်။ ကြည့်-ကုရ်အာန် (၂၈း၇၈)။ ကျေးဇူးမသိတတ်သော လူသားသည် ဤသည့်သခၤါရ ပစ္စက္ခဘဝကိုပင် အဓိကပန်းတိုင် ဖြစ်သည်။ ဤသည့် ပစ္စက္ခဘဝ၏ ချမ်းသာကြွယ်ဝမှုသည် မိမိ၏ အဓိက အောင်မြင်မှု ဖြစ်သည်ဟု ယုံကြည်ယူဆနေပေသည်။ ဤကား မဟာအမှားပင်။

တစ်ခါတစ်ရံ အလ္လာဟ်အရှင်မြတ်သည် လူသား၌ စားဝတ်နေရေးကို ကျပ်တည်းစေတော်မူသည်။ ယင်းသို့ ကျပ်တည်းစေတော်မူခြင်းမှာ လူသားသည် အကျပ်အတည်းနှင့်ရင်ဆိုင် တွေ့ကြုံရသောအခါ သည်းခံနိုင်သည်၊ မိမိအရှင်အား ပုံအပ်နိုင်သည်၊ သို့တည်းမဟုတ် ညည်းညူမြည်တမ်းသည်၊ သည်းမခံနိုင်သည်များကို စမ်းသပ်တော်မူရန်ပင် ဖြစ်ပေသည်။ ကျေးဇူးမသိတတ်သော လူသားသည် ယင်းသို့ အကျပ်အတည်းနှင့် ➤➤

| | |
|---|---|
| ၁၇။ အလျှင်းမဟုတ်၊ စင်စစ်မှာကား အသင်တို့သည် ဘမဲ့ကလေးသူငယ်များအား ဂုဏ်ပေးကြသည် မဟုတ်ပေ။ | كَلَّا ۖ بَل لَّا تُكْرِمُونَ الْيَتِيمَ ﴿١٧﴾ |
| ၁၈။ ထို့ပြင် အသင်တို့သည် သူဆင်းရဲတို့အား ကျွေးမွေးရန် တိုက်တွန်းနှိုးဆော်ကြသည်လည်း မဟုတ်ပေ။ | وَلَا تَحَاضُّونَ عَلَىٰ طَعَامِ الْمِسْكِينِ ﴿١٨﴾ |
| ၁၉။ ၎င်းပြင် အသင်တို့သည် အမွေပစ္စည်းများကိုလည်း သိမ်းကျုံးလျက် စားသုံးကြကုန်၏။ | وَتَأْكُلُونَ التُّرَاثَ أَكْلًا لَّمًّا ﴿١٩﴾ |

---

➢➢ ရင်ဆိုင်ရသည့်အခါ အမျိုးမျိုး ညည်းညူမြည်တမ်းလေသည်၊ အကြီးအကျယ် မကျေမချမ်း၊ မကျေမနပ် ဖြစ်လေသည်၊ မိမိအား မိမိ၏အရှင်သည် ဂုဏ်အသရေ ဖျက်ဆီးလေပြီဟူ၍ပင် ကျေးဇူးကန်းကာ မိုက်မဲစွာ ဆိုလေသည်။ ကျေးဇူးမသိတတ်သောသူသည် ဤသင်္ခါရဘဝ၏ ခေတ္တချမ်းသာကြွယ်ဝမှုကို မိမိ၏အဓိက ဆုံးရှုံးမှုကြီးပင် ဖြစ်သည်ဟု ယုံကြည် ယူဆနေပေသည်။ ဤသည်လည်း မဟာအမှားပင်။

ယင်းသို့ တွေးခေါ်ယုံကြည်ယူဆခြင်းမှာ ကျေးဇူးမသိတတ်သော၊ နောင်တမလွန်ဘဝကို မယုံကြည်သော ကာဖိရ်များ၏ အချည်းနှီးသော အတွေးအခေါ်နှင့် လုံးဝမှားယွင်းသော ယုံကြည်ယူဆချက်မျှသာ ဖြစ်ပေသည်။ အမှန်မှာ ဤသင်္ခါရပစ္စက္ခဘဝသည် အဓိကမဟုတ်၊ ပန်းတိုင်မဟုတ်။ နောင်တမလွန်ဘဝသည်သာ အဓိကဖြစ်သည်၊ ပန်းတိုင်ဖြစ်သည်။

ဤပစ္စက္ခဘဝတွင် ခေတ္တချမ်းသာကြွယ်ဝမှုသည် ကြွားဝါဖွယ်ရာလည်းမဟုတ်၊ ဤပစ္စက္ခဘဝတွင် ကျပ်တည်းဆင်းရဲမှုသည် ဝမ်းနည်းဖွယ်ရာလည်းမဟုတ်။ ထို့အတူ ဤပစ္စက္ခ၏ ချမ်းသာ ကြွယ်ဝမှုသည် အလ္လာဟ်အရှင်မြတ် နှစ်သက် မြတ်နိုးတော်မူခြင်း၏ လက္ခဏာလည်းမဟုတ်၊ ဆင်းရဲကျပ်တည်းမှုသည် ထိုအရှင်မြတ် စက်ဆုပ်မုန်းတီးတော်မူခြင်း၏ လက္ခဏာလည်းမဟုတ်ပေ။ ဆင်းရဲချမ်းသာမှုသည် စမ်းသပ်မှုသာ ဖြစ်သည်။

အချုပ်အားဖြင့် ကျေးဇူးမသိတတ်သော လူသားသည် ဤပစ္စက္ခဘဝကိုပင် အဓိကဟူ၍ ထင်မှတ်နေသည်။ ယင်းသို့ ထင်မှတ်ခြင်းဖြင့် ၎င်းသည် နောင်တမလွန်ကို မယုံကြည်ရာ ရောက်နေပေသည်။ ထို့အတူ ကျေးဇူးမသိတတ်သော လူသားသည် မိမိရရှိထားသော လောကီစည်းစိမ်မှာ မိမိနှင့်ထိုက်တန်၍သာ ဖြစ်သည်ဟူ၍ ထင်မှတ်နေသည်။

ယင်းသို့ ထင်မှတ်သည့်အတွက်ကြောင့် ၎င်းသည် လောကီစည်းစိမ်ကို အကြောင်းပြု၍ ကြွားဝါ မောက်မာလေသည်၊ အလ္လာဟ်အရှင်မြတ်အား ကျေးဇူးမတင်ပေ။ ဥစ္စာပစ္စည်း ပျက်စီးဆုံးပါးသည့် အခါတွင်လည်း သည်းမခံနိုင်ပေ။ ဤသည်တို့ကား ပြစ်ဒဏ်သက်ရောက်စေသော အကြောင်းတရားများတည်း။ ထာနဝီ။

၂၀။ ထိုမှတပါး အသင်တို့သည် ဥစ္စာပစ္စည်းကို လည်း အလွန်အမင်း ချစ်ခင်စုံမက် ခုံမင်ကြကုန် သတည်း။ [၁]

وَّتُحِبُّوْنَ الْمَالَ حُبًّا جَمًّا ⑳

---

(၁) ကျေးဇူးမသိတတ်သော လူသားက မိမိ၏အရှင်အား ကျေးဇူးကန်းကာ "ကျွန်ုပ်၏အရှင်သည် ကျွန်ုပ်အား ဂုဏ်အသရေမဲ့ စေတော်မူပြီ"ဟူ၍ပင် မိုက်မဲစွာ ကဲ့ရဲ့ပြစ်တင် ပြောဆို၏။ ယင်းသို့ကဲ့ရဲ့ပြောဆိုခြင်းမှာ ကျေးဇူးမသိတတ်ခြင်း၊ မိမိ၏အပြစ်ကို မိမိမမြင်ခြင်းကြောင့်ပင်ဖြစ်၏။ အမှန်မှာ ကျေးဇူးမသိတတ်သော လူသားသည် လောကီရေးတွင် အလွန်အကျွံ နစ်မွန်းပြီး ဖန်ဆင်းတော်မူသောအရှင်နှင့် အဖန်ဆင်းခံတို့၏စပ်ကြား၌ စောင့်သိရိုသေအပ်သော တာဝန်များကိုလည်းကောင်း၊ အစ္စလာမ်က သတ်မှတ်ထားသော စည်းကမ်းချက်များကို လည်းကောင်း၊ အမေ့ကြီးမေ့လျက်ရှိ၏။

ဥပမာ-အစ္စလာမ်က ခိုကိုးရာမဲ့ဖြစ်နေသော မိတဆိုး ဖတဆိုး ကလေးများအား အထူးတလည် ကာကွယ်ထိန်းသိမ်း ကူညီစောင့်ရှောက်ရန် အကြိမ်ကြိမ် ညွှန်ကြားထားပါလျက်၊ ကျေးဇူးမသိတတ်သော လူသားသည် မိတဆိုး ဖတဆိုး တို့အား ကူညီစောင့်ရှောက်ရမည့်အစား အထင်အမြင်သေးသည်၊ အနိုင်ကျင့်သည်၊ စော်ကားသည်။ ၎င်းတို့၏ ဥစ္စာပစ္စည်းကိုပင် မတရား စားသုံးပစ်လေသည်။

ဆင်းရဲသားများနှင့်ပတ်သက်၍ အစ္စလာမ်က လူသားတို့အား မိမိတို့ကိုယ်တိုင်ကလည်း တတ်စွမ်းနိုင်သမျှ ဆင်းရဲသားများကို ကူညီထောက်ပံ့ကြရမည်။ သူတပါးတို့အားလည်း ကူညီထောက်ပံ့ရန် နှိုးဆော်ပေးကြရမည်ဟု အကြိမ်ကြိမ် ညွှန်ကြားထားပါသော်လည်း၊ ကျေးဇူးမသိသောလူသားသည် ဆင်းရဲသားတို့အား မိမိကိုယ်တိုင်က ကူညီထောက်ပံ့ရန်ဝေးစွ၊ သူတပါးတို့အားလည်း မေ့မှား၍မျှ မနှိုးဆော်ပေ။

ထို့မျှမကသေး၊ ကျေးဇူးမသိတတ်သောလူသားသည် မိမိကိုယ်တိုင် မစားရက်မသောက်ရက် ရှာဖွေစုဆောင်းထားသော ဥစ္စာပစ္စည်းများနှင့် မရောင့်ရဲနိုင်သည်သာမက သူသေများ၏ အမွေပစ္စည်းများကိုပင် တရားသောနည်းဖြင့်ဖြစ်စေ၊ မတရားသောနည်းဖြင့်ဖြစ်စေ အမွေကြီးငယ်အားလုံးကို သိမ်းကျုံး၍ လက်ဝါးကြီးအုပ်လေသည်။

အမှန်မှာ ကျေးဇူးမသိတတ်သော လူသားသည် ဥစ္စာပစ္စည်းကို အလွန်အကျွံ ခုံမင်စုံမက် နစ်သက်လျက် ရှိပေသည်။ ဥစ္စာကိုအမိ၊ ဥစ္စာကိုအဖ၊ ဥစ္စာကိုသာ အဓိကဟု ထင်မှတ် ယုံကြည်လျက် ရှိပေသည်။ ကျေးဇူးမသိတတ်သော လူသားသည် ဥစ္စာအတွက် အမြတ်ကြီးစားရန် အသင့်၊ ခေါင်းပုံဖြတ်ရန် အသင့်၊ ဘနဖူးသိုက်တူးရန် အသင့်။ ဥစ္စာရမည်ဆိုပါက အဘယ်မျှကြီးလေးသော အပြစ်ကိုပင်မဆို ကျူးလွန်ရန် လက်မနှေးပေ။ အလ္လာဟ်အရှင်မြတ်၏ လမ်းတော်၌မူ ကုသိုလ်ရေး၌မူ ပြားစေ့တစ်စေ့ကိုပင် မေ့မှား၍မျှ မသုံးရက်ပေ၊ မလှူရက်ပေ။

ထိုသို့သော လူသားသည် အလ္လာဟ်အရှင်မြတ်ထံတော်၌ အသို့လျှင် ဂုဏ်အသရေ ရှိနိုင်အံ့နည်း။ လူသားထုကြီးထံ၌ အသို့လျှင် မျက်နှာပန်းလှနိုင်အံ့နည်း။ ယနေ့ကမ္ဘာအရပ်ရပ်တွင် ဆင်းရဲသားများ အုံကြွလာခြင်းမှာ ထိုသို့သော ဥစ္စာရူးတို့၏ မတရား လောဘကြီးမှု၏ အကျိုးပင် မဟုတ်တုံလော။ ဤမျှေ့ဤမျှ လောကီရေးတွင် နစ်မွန်းနေသောသူများမှာ ကျိုးပြစ်ခံစံရမည့် ကိယာမတ်နေ့ကို ငြင်းဆန်သော၊ ကျေးဇူးမသိတတ်သော၊ ဥစ္စာရူး ရူးနေသော ကာဖိရ်များသာလျှင် ဖြစ်ကြပေသည်။

كَلَّآ إِذَا دُكَّتِ ٱلْأَرْضُ دَكًّا دَكًّا ﴿٢١﴾

၂၁။ အလျှင်းမဟုတ် (စင်စစ်မှာကား) ပထဝီမြေသည် ထုထောင်းလျက် တပြေးတည်းညီအောင် ပြုလုပ်ခြင်းကိုခံရသောအခါ၊ (တစ်နည်း) ညက်ညက်ကြေအောင် ထုထောင်းခြင်းကို ခံရသောအခါ။

وَجَآءَ رَبُّكَ وَٱلْمَلَكُ صَفًّا صَفًّا ﴿٢٢﴾

၂၂။ ထို့ပြင် အသင့်အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်သည် ကြွလာတော်မူသောအခါ၊ ထို့ပြင် "မလာအိကဟ်" ကောင်းကင်တမန်တို့သည် စီတန်းလျက်(လာကြသောအခါ။)

وَجِا۟ىٓءَ يَوْمَئِذٍۭ بِجَهَنَّمَ ۚ يَوْمَئِذٍ يَتَذَكَّرُ ٱلْإِنسَٰنُ وَأَنَّىٰ لَهُ ٱلذِّكْرَىٰ ﴿٢٣﴾

၂၃။ ၎င်းပြင် ထိုနေ့တွင် "ဂျဟန္နမ်" ငရဲသည် (လူတို့ရှေ့မှောက်ဝယ်) ယူဆောင်လာခြင်းကို ခံရသောအခါ၊ ထိုနေ့တွင် လူသားသည် အသိတရားရလာပေမည်။ သို့ရာတွင် (ထိုအခါ) သတိတရားရခြင်းသည် အဘယ်မှာလျှင် ၎င်း၌ အကျိုးရှိစေတော့မည်နည်း။

يَقُولُ يَٰلَيْتَنِى قَدَّمْتُ لِحَيَاتِى ﴿٢٤﴾

၂၄။ (ထိုအခါ) လူသားသည် (ဤသို့) ပြောဆို (ညည်းညူ)ပေလိမ့်မည်။ ဩော်-ငါသည် (အာခိရတ်တမလွန်ဘဝ၌) မိမိအသက်ရှင်ရေးအလို့ငှာ (တစ်နည်း) မိမိသက်တမ်း၌ (ကောင်းမှု တစ်စုံတစ်ရာကို) ကြိုတင်၍ ဆည်းပူးခဲ့ပါလျှင် ကောင်းလေစွတကား။

فَيَوْمَئِذٍ لَّا يُعَذِّبُ عَذَابَهُۥٓ أَحَدٌ ﴿٢٥﴾

၂၅။ စင်စစ် ထိုနေ့တွင် ထိုအရှင်မြတ်၏ပြစ်ဒဏ်စီရင်ခြင်းမျိုးကို မည်သူတစ်ဦးတစ်ယောက်မျှပင် ပြစ်ဒဏ် စီရင်လိမ့်မည်မဟုတ်ပေ။

وَلَا يُوثِقُ وَثَاقَهُۥٓ أَحَدٌ ﴿٢٦﴾

၂၆။ ထိုနည်းတူစွာ ထိုအရှင်မြတ်၏ ဖမ်းဆီး ချုပ်နှောင်ခြင်းမျိုးကိုလည်း မည်သူတစ်ဦးတစ်ယောက် မျှပင် ဖမ်းဆီးချုပ်နှောင်လိမ့်မည် မဟုတ်ပေ။

يَٰٓأَيَّتُهَا ٱلنَّفۡسُ ٱلۡمُطۡمَئِنَّةُ ۝٢٧

၂၇။ အို-(သောကကင်း၍) ငြိမ်ဆိမ်သော အသက်ဇီဝိန်။ ¹

① **"နဖ်စ်" စိတ်သုံးမျိုး။**

လူ၌ "နဖ်စ်" စိတ်သည် တစ်ခုသာရှိသည်။ သို့ရာတွင် စိတ်၏အခြေအနေသုံးရပ်ကို အကြောင်းပြုပြီး စိတ်၏ အမည်သုံးခု ဖြစ်သွားပေသည်။

(၁) မွတ္တမအင်န်နဟ်။

(၂) အမ္မာရဟ်။

(၃) လောင်ဝါမဟ်။

အကယ်၍ စိတ်သည် အထက်ကမ္ဘာသို့ ယိမ်းယိုင်၏။ အလ္လာဟ်အရှင်မြတ်အား ခဝပ်ကိုးကွယ်မှု၊ နာခံမှု၌ ဝမ်းသာပျော်ရွှင်၏။ သာသနာ၏စည်းကမ်းချက်များကို လိုက်နာကျင့်သုံးမှု၌ တည်ငြိမ်၏။ ငြိမ်းချမ်းသာယာ၏။ ကြည်နူး၏။ထိုသို့သောစိတ်ကို "မွတ္တမအင်န်နဟ်"ဟုခေါ်သည်။ကြည့်-ကုရ်အာန်(၈၉း၂၇-၃၀)

အကယ်၍ စိတ်သည် အောက်ကမ္ဘာသို့ ယိမ်းယိုင်၏။ လောကီစည်းစိမ်များတွင် နစ်မွန်း၍ ဒုစရိုက်မှုများကို ကျူးလွန်၏။ သာသနာ၏ စည်းကမ်းချက်များကို မနာခံသွေဖည်ဖောက်ပြန်၏။ ထိုသို့သော စိတ်ကို "အမ္မာရဟ်"ဟု ခေါ်သည်။ ကြည့်-ကုရ်အာန် (၁၂း၅၃)။

အကယ်၍ စိတ်သည် တစ်ခါတစ်ရံ အောက်ကမ္ဘာသို့ ယိမ်းယိုင်ကာ ကာမဂုဏ်အာရုံများ၌ မွေ့လျော်၏၊ ဒေါသထွက်၏။ တစ်ခါတစ်ရံ အထက်ကမ္ဘာသို့ ယိမ်းယိုင်ကာ အဆိုပါ ကာမဂုဏ်အာရုံ၊ ဒေါသ စသည်တို့ကို စက်ဆုပ်ရွံရှာ၏။ ဝေးစွာရှောင်ကြဉ်၏။ ဒုစရိုက်မှုတစ်ခုခု ကျူးလွန်မိလျှင် သို့မဟုတ် ကောင်းမှုတစ်ခုပြုရန် လစ်ဟင်းသွားလျှင် ရှက်ရွံ့ကာ မိမိကိုယ်ကိုမိမိ ကဲ့ရဲ့ပြစ်တင်၏။ ထိုသို့သောစိတ်ကို "လောင်ဝါမဟ်" ဟုခေါ်သည်။ ကြည့်-ကုရ်အာန် (၇၅း၂)။

ရှာဟ်အဗ်ဒုလ်ကာဒိရ်သခင်က စိတ်သုံးမျိုးအကြောင်းကို တစ်နည်း အောက်ပါအတိုင်း ဖွင့်ဆိုရေးသားထားသည်။

လူ၏စိတ်သည် ပထမသော် လောကီစည်းစိမ်များတွင် နစ်မွန်း၍နေ၏။ ကုသိုလ်ကောင်းမှု ဘစ်စုံတစ်ရာကိုမျှ ဆည်းပူးလိုသည့် ဆန္ဒအလျှင်းမရှိ။ ဤသို့သော မကောင်းရာကိုသာ ညွှန်သောစိတ်ကို 'အမ္မာရဟ်'ဟု ခေါ်သည်။ ထိုသို့ မကောင်းမှုများ၌ နစ်မွန်းနေပြီးသည့်နောက်တွင် လူသည် ဆင်ခြင်တုံတရား ရလာ၏။ အကောင်းနှင့်အဆိုးကို ခွဲခြားသိမြင်လာ၏။ ထိုအခါ လူသည် မကောင်းမှုမှ နောက်ဆုတ်လေသည်၊ ရှောင်ကြဉ် လေသည်။

ယင်းသည့်အခြေအနေတွင် ရောက်ရှိသည့်အချိန်မှာပင် တစ်ခါတစ်ရံ မေ့လျော့ကာ မိမိ၏ဝသီအတိုင်း မကောင်းမှုကို ကျူးလွန်မိတတ်၏။ ထို့နောက် တဖန် ဆင်ခြင်တုံတရားရရှိပြန်ကာ ယင်းသို့ မိမိမကောင်းမှု ကျူးလွန်မိသည့်အတွက် မိမိကိုယ်ကိုမိမိ ကဲ့ရဲ့ပြစ်တင်၏။ ထိုသို့သောစိတ်ကို "လောင်ဝါမဟ်" ဟုခေါ်သည်။

ထိုသည့်နောက်ပိုင်းတွင် စိတ်သည် လုံးဝကြည်လင်သန့်ရှင်းသွား၏။ ကောင်းမှုကုသိုလ်ရေးများကိုသာ ပြုလုပ်လိုသော ဆန္ဒရှိလေ၏။ မကောင်းမှုကို အလိုအလျောက် ဝေးစွာရှောင်ကြဉ်လာ၏။ မကောင်းမှုများကို ကာယကံမြောက် ကျူးလွန်ရန်ဝေးစွ၊ စိတ်ကူးတွင် ထည့်မိရုံမျှဖြင့် ဒုက္ခဖြစ်လာတော့၏။ ထိုသို့သောစိတ်ကို 'မွတ်မအင်န်နဟ်'ဟု ခေါ်သည်။

ارْجِعِىٓ إِلَىٰ رَبِّكِ رَاضِيَةً مَّرْضِيَّةً ﴿٢٨﴾

၂၈။ အသင်သည် မိမိ၏ အရှင်မြတ်အထံတော်သို့ ကျေနပ်လျက် (ထိုအရှင်မြတ်၏)ကျေနပ်မှုကို ခံယူလျက် ပြန်သွားလေလော့။

فَادْخُلِى فِى عِبَٰدِى ﴿٢٩﴾

၂၉။ ထို့နောက် အသင်သည် ငါအရှင်မြတ်၏ ကျွန်တို့တွင် ပါဝင်လေလော့။

وَادْخُلِى جَنَّتِى ﴿٣٠﴾

၃၀။ ၎င်းပြင် အသင်သည် ငါအရှင်မြတ်၏ဂျန္နတ် သုခဘုံ၌ ဝင်ရောက်(စံမြန်း)လေလော့။

## سُورَةُ الْبَلَدِ

## မြို့တော် ကဏ္ဍ

ဤကဏ္ဍသည် 'အလ်ဗလဒ်' မြို့တော်ကဏ္ဍမည်၏။ မက္ကာမြို့တော်၌ ကျရောက်ခဲ့၏။ ဤကဏ္ဍတွင် အာယတ်တော်(၂၀)ပါး ပါရှိ၏။

بِسْمِ اللَّهِ الرَّحْمَٰنِ الرَّحِيمِ

မပြတ်မစဲ သနားကြင်နာ ညှာတာတော်မူသော
မဟာကရုဏာတော်ရှင်ဖြစ်တော်မူသော
အလ္လာဟ်အရှင်မြတ်၏နာမံတော်ဖြင့် အစပြုပါ၏။

لَآ أُقْسِمُ بِهَٰذَا الْبَلَدِ ﴿١﴾

၁။ ငါအရှင်မြတ်သည် ဤ(မက္ကဟ်) မြို့တော်ကို သက်သေထူတော်မူ၏။

وَأَنتَ حِلٌّۢ بِهَٰذَا الْبَلَدِ ﴿٢﴾

၂။ စင်စစ် အသင်သည် ဤ(မက္ကဟ်)မြို့တော်၌ ဝင်ခွင့်ပြုခြင်း ခံရပေမည်။ [၁]

(၁) ဤအာယတ်တော်တွင် အလ္လာဟ်အရှင်မြတ်သည် မက္ကာမြို့တော်ကို သက်သေထူ၍ လူသားတို့ တွေ့ကြုံခံစားရသည့် ပင်ပန်းမှု၊ ဒုက္ခကြီးငယ်များကို ညွှန်ပြမြွက်ဟ ဆိုထားတော်မူသည်။ ထိုအချိန်တွင် တမန်တော်တို့၏ အချုပ်ဖြစ်တော်မူသော တမန်တော်မြတ်သည်ပင် ရန်သူတို့၏ ဘေးရန်အပေါင်းကို မရှုမလှ ခံစား၍ နေခဲ့ရရှာတော်မူသည်။ (မက္ကာမြို့တော်အတွင်း သစ်ပင်နုတ်ခွင့်၊ သားကောင် သတ်ဖြတ်ခွင့်ပင် မပြုခဲ့ကြသော အရဗ်ကာဖိရ်တို့သည်ပင် တမန်တော်မြတ်အား သတ်ဖြတ်ရန်၊ နှင်ထုတ်ရန် ကြိုးစားနေခဲ့ကြပေသည်။)

ထို့အတွက် စကားညှပ်အနေနှင့် (وَأَنتَ حِلٌّۢ بِهَٰذَا الْبَلَدِ)ဟူသော အာယတ်တော်ကို မိန့်ကြားတော်မူပြီး တမန်တော်မြတ်အား ယနေ့ ဤမြို့တော်ရှိ လူမိုက်များသည် အသင် (တမန်တော်)အား မလေးစားမခန့်ညား ရန်ပွားနေကြသော်လည်း မကြာမီအတွင်း တမန်တော်မြတ်သည် ဤမြို့တော်အတွင်းသို့ ▷▷

وَوَالِدٍ وَّمَا وَلَدَ ﴿٣﴾

၃။ ၎င်းပြင် (ငါအရှင်မြတ်သည်) ဖခင်ကိုလည်းကောင်း၊ ထိုဖခင်ကမွေးဖွားသည့် (သားသမီး)ကိုလည်းကောင်း၊ သက်သေထူတော်မူ၏။ [၁]

لَقَدْ خَلَقْنَا الْإِنسَانَ فِي كَبَدٍ ﴿٤﴾

၄။ မုချဧကန် ငါအရှင်မြတ်သည် လူကို (ကြီးကျယ်သော) ပင်ပန်းမှု၌ (ပင်ပန်းသောဘဝ၌) ဖန်ဆင်းတော်မူခဲ့၏။ [၂]

---

➤➤ အောင်နိုင်သူအဖြစ်နှင့် ဝင်ရောက်လာပြီး အစ္စလာမ်အောင်လံကို စိုက်ထူရတော့မည်။ ထိုနေ့တွင် ဤမြင့်မြတ်သော မြို့တော်၏ ထာဝစဉ် စင်ကြယ်သန့်ရှင်းရေးအတွက် တမန်တော်မြတ်သည် သာသနာ့ရန်စွယ် ဓမ္မန္တရာယ်များကို သုတ်သင် ရှင်းလင်းခွင့်လည်း ရရှိတော်မူပေမည်ဟု အမိန့်တော် ပေးတော်မူလေသည်။ ဤအမိန့်တော်သည် ဟိဂျ်ရီသက္ကရာဇ် (၈) ခုနှစ်တွင် အတည်ဖြစ်သွားခဲ့ချေပြီ။

① ဤအာယတ်တော်တွင် ဖခင်ဟူသည် ဖခင်ကြီးအာဒမ် (အလိုင်ဟစ္စလာမ်)ကို ဆိုလိုသည်။ သားသမီးဟူသည် ထိုဖခင်ကြီးအာဒမ်၏ သားသမီးများကို ဆိုလိုသည်။ အချို့က ဖခင်ဟူသည် ဖခင်တိုင်းကိုလည်းကောင်း၊ သားသမီးဟူသည် သားသမီးတိုင်းကို လည်းကောင်း၊ ဆိုလိုသည်။

အချို့က မက္ကာမြို့တော်သည် တမန်တော် အိဗ်ရာဟီမ် ပြန်လည်တည်ထောင်ခဲ့သော မြို့တော်၊ တမန်တော်အိစ်မာအီလ် ကြီးပြင်းရာမြို့တော်၊ တမန်တော်မြတ် မီးရှူးသန့်စင် ဖွားမြင်တော်မူရာ မြို့တော်ဖြစ်သည်ကို အကြောင်းပြုပြီး၊ ဤအာယတ်တော်တွင် ဖခင်ဟူသည် တမန်တော်အိဗ်ရာဟီမ်ကို ဆိုလိုသည်။ သားဟူသည် တမန်တော်အိစ်မာအီလ်နှင့် တမန်တော်မြတ် မုဟမ္မဒ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)ကို ဆိုလိုသည်ဟု ယူဆကြသည်။ ပထမအဆိုသည် ပိုမိုသင့်မြတ်လှပေသည်။ ကြည့်-အဇ္ဇုစုအူဒ်။

② **လူသားနှင့် ဆင်းရဲမှုဒုက္ခ။**

လူသားသည် အစမှအဆုံးတိုင် ဆင်းရဲဒုက္ခ၊ ခက်ခဲမှု၊ ခဲယဉ်းမှု၊ ပင်ပန်းမှုတို့၏ ဝဲဩဂတွင် နစ်မွန်းလျက်သာရှိ၏။ ဒုက္ခအမျိုးမျိုးတို့ကို ရင်ဆိုင်တွေ့ကြုံ ခံစားနေရသည်သာဖြစ်၏။

လူ့ဘဝသက်တမ်းကိုကြည့်လျှင် လူသားသည် တစ်ခါတစ်ရံ ရောဂါ၏ ဖိစီးခြင်းကို ခံနေရ၏။ တစ်ခါတစ်ရံ စိတ်ဒုက္ခဖြစ်နေရ၏။ တစ်ခါတစ်ရံ အရောင်းအဝယ် ပျက်စီး၏။ တစ်ခါတစ်ရံ သားချင်းသေဆုံး၏။ တစ်ခါတစ်ရံ မိတ်ဆွေ သစ္စာဖောက်၏။ တစ်ခါတစ်ရံ အမှုဖြစ်ရ၏။ အငြင်းပွားရ၏။ ဒုက္ခဆင်းရဲမှုသည် တစ်ခုပြီးတစ်ခု အဆက်မပြတ် ဖြစ်ပေါ်နေသည်သာ ဖြစ်၏။ ကာယဒုက္ခ၊စိတ္တဒုက္ခနှင့် လွတ်ကင်း၍ ကိုယ်စိတ်နှစ်ဖြာ ကျန်းမာချမ်းသာစွာ နေထိုင်ရသော အချိန်ပိုင်းကိုကား လူ့ဘဝသက်တမ်းတွင် တွေ့ရခဲလှ၏။ ဖခင်ကြီးအာဒမ်နှင့် ၎င်း၏သားသမီးတို့၏ ဘဝဖြစ်စဉ် သည် ဤသည်ကို ထောက်ခံလျက် ရှိပေသည်။

အာရေဗျတိုင်းပြည်ကဲ့သို့ စားနပ်ရိက္ခာ ခေါင်းပါးသော တိုင်းပြည်တွင် နေထိုင်ရခြင်းသည်လည်း ဒုက္ခတစ်ရပ်ပင်။ အထူးသဖြင့် ထိုသည့် တိုင်းပြည်မျိုးတွင် တမန်တော်မြတ်ကဲ့သို့သော ကမ္ဘာ့ အထွတ်အထိပ် တမန်တော်ကြီးတစ်ပါးသည်ပင် ရန်သူတို့၏ အလွန်ကြီးများသော ဘေးရန်အမျိုးမျိုးတို့ကို အလူးအလိမ့် ခံစားတော်မူခဲ့ရလေသည်။ 

٥။ ထိုလူသည် မိမိအပေါ်၌ မည်သူတစ်ဦးတစ်ယောက်မျှပင် အလျှင်းတတ်စွမ်းနိုင်မည် မဟုတ်ဟု ထင်မှတ်လေသလော။ [၁]

أَيَحْسَبُ أَن لَّن يَقْدِرَ عَلَيْهِ أَحَدٌ ۝٥

၆။ ၎င်းက ကျွန်ုပ်သည် မြောက်မြားစွာသော ပစ္စည်းဥစ္စာကို သုံးဖြုန်းခဲ့သည်ဟု (ဝါကြွား)ပြောဆိုလေ၏။ [၂]

يَقُولُ أَهْلَكْتُ مَالًا لُّبَدًا ۝٦

၇။ ၎င်းသည် မိမိအား မည်သူတစ်ဦးတစ်ယောက်မျှပင်မြင်ခဲ့သည်မဟုတ်ဟူ၍ ထင်မှတ်လေသလော၊ [၃]

أَيَحْسَبُ أَن لَّمْ يَرَهُ أَحَدٌ ۝٧

---

➤➤ ဤသည်လည်း "ငါအရှင်မြတ်သည် လူသားအား ဆင်းရဲမှု၌ ဖန်ဆင်းတော်မူသည်" ဟူသော အာယတ်တော်၏ ထင်ရှားသော လက်တွေ့သာဓက တစ်ရပ်ပင်။

**မှတ်ချက်။**

"ကဗဒ်"ဟူသော ပုဒ်နှင့်စပ်လျဉ်း၍ အဆိုအမျိုးမျိုး တွေ့ရှိရသည်။ ကျမ်းလေးမည်စိုး၍ မရေးတော့ပြီ။ အကျယ်သိလိုပါက အိဗ်နုဂျရီရ်၊ အိဗ်နုကဆီရ်၊ ခါဇင်န် စသည့် ကျမ်းကြီးများတွင် ကြည့်ရှုပါကုန်။

(၁) လူသားသည် မိမိ၏သက်တမ်းတလျှောက်လုံးတွင် ကိုယ်၏ဆင်းရဲခြင်း၊ စိတ်၏ဆင်းရဲခြင်း အမျိုးမျိုးကို မပြတ်ခါခါ ခံစားနေရသည်ဖြစ်ရာ၊ မိမိ၏စွမ်းဆောင်နိုင်မှု၊ ချည့်နဲ့မှု၊ အင်အားမရှိမှုများကို တွေ့မြင်ကာ ကျိုးနွံလာအပ်၏။ အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ရိုသေခန့်ညားကာ ထိုအရှင်မြတ်၏ အမိန့်တော်များကို ကြည်ဖြူစွာ လိုက်နာကျင့်သုံးအပ်၏။ သို့တစေလည်း ကျေးဇူးမသိတတ်သောလူသားသည် အမေ့ကြီးမေ့လျက်ပင် ရှိ၏။ အမြင်မှားလျက်ပင်ရှိ၏။ အောက်ခြေလွတ်လျက်ပင်ရှိ၏။ မိမိအထက်၌ မိမိအား ချုပ်ကိုင်နိုင်သူ၊ အရေးယူနိုင်သူ၊ အပြစ်ပေးနိုင်သူ တစ်ဦးတစ်ယောက်မျှပင် မရှိဟူ၍ ထင်မှတ်နေ၏။ ဤကား မဟာအမှားပင်။

(၂) ကျေးဇူးမသိတတ်သောလူသားသည် တမန်တော်အား ရန်ပွားရာတွင်လည်းကောင်း၊ အစ္စလာမ်ကို ဆန့်ကျင်ရာတွင် လည်းကောင်း၊ ဒုစရိုက်မှုများကို ကျူးလွန်ရာတွင်လည်းကောင်း မိမိ၏ ဥစ္စာပစ္စည်းများကို ရေလိုဖြုန်းတီးလေသည်။ ယင်းသို့ ဖြုန်းတီးသည်ကိုပင် ဂုဏ်ယူဖွယ်ရာ လုပ်ငန်းကြီးတစ်ရပ်ဟု ယူဆပေသည်။ ထို့ပြင်တဝ၊ ယင်းသို့ဖြုန်းတီးသည်ကိုလည်း ပုံကြီးချဲ့ကာ "ငါသည် ဤရွေ့ဤမျှ ဥစ္စာပစ္စည်း အမြောက်အမြား ဖြုန်းတီးပစ်လိုက်သည်"ဟု ဝါကြွားပြောဆိုလိုက်သေးသည်။ သို့ရာတွင် ယင်းကျေးဇူးကန်းသည့်စကားသည် မကြာမီအတွင်း ယင်းသို့ မိုက်မဲစွာ ဖြုန်းတီး ပြောဆိုမိခဲ့သည်များနှင့် စပ်လျဉ်း၍ "ဩော်-ငါသည် မိမိ ဥစ္စာပစ္စည်းများကို အလွဲသုံးစား ပြုမိခဲ့ချေပြီ၊ အချည်းနှီး ဖြုန်းတီးပစ်မိခဲ့ချေပြီ။ ဤသည် ကောင်းကျိုးမပေး၊ ဆိုးကျိုးသာ ပေးချေပြီ၊ အမှား ကြီးမှားမိခဲ့ချေပြီတကား"ဟု နောင်တရချိမ့်မည်။

(၃) ကျေးဇူးမသိတတ်သော လူသားသည် မည်သို့ပင်ကြွားဝါနေလင့်ကစား အလ္လာဟ်အရှင်မြတ်သည် အားလုံး သိတော်မူသည်၊ မြင်တော်မူသည်။ မည်သူမည်ဝါသည် မည်ရွေ့မည်မျှကို မည်သည့်နေရာတွင် မည်သည့်စေတနာ နှင့် သုံးသည်ကိုလည်း အကြွင်းမဲ့သိတော်မူသည်။ ကြွားဝါခြင်းအားဖြင့် အကျိုး တစ်စုံတစ်ရာမရှိပေ။

أَلَمْ نَجْعَل لَّهُۥ عَيْنَيْنِ ⑧

၈။ ငါအရှင်မြတ်သည် ၎င်းအား မျက်စိနှစ်လုံးကို ပြုလုပ်၍ ပေးသနားတော်မူခဲ့သည် မဟုတ်ပါလော။

وَلِسَانًا وَشَفَتَيْنِ ⑨

၉။ ထို့ပြင် လျှာတစ်ခုကိုလည်းကောင်း၊ နှုတ်ခမ်း တစ်ခုကိုလည်းကောင်း၊ (ပြုလုပ်ပေးသနားတော်မမူခဲ့ ပါသလော)။

وَهَدَيْنَٰهُ ٱلنَّجْدَيْنِ ⑩

၁၀။ ထိုမှတပါး ငါအရှင်မြတ်သည် ၎င်းအား (အကောင်းအဆိုး) လမ်းနှစ်သွယ်ကို ညွှန်ပြတော်မူခဲ့ ပေသတည်း။ ၁

فَلَا ٱقْتَحَمَ ٱلْعَقَبَةَ ⑪

၁၁။ သို့ပါလျက် ထိုလူသားသည် တောင်ကြား လမ်းကို ဖြတ်ကူးခဲ့သည် မဟုတ်ပေ။

---

၁ အလ္လာဟ်အရှင်မြတ်သည် မိမိ၏ကျေးဇူးတော်ဖြင့် ယင်းသည့် လူသားအား ရေတွက်၍ပင် မကုန်နိုင်သော၊ အသင်္ချေအသင်္ချာသော ကျေးဇူးတော်များကို ပြုထားတော်မူသည်။ အခြား ကျေးဇူးတော်များကိုထားဘိဦး။ ထိုလူသား အမြဲတစေအသုံးပြုသော မျက်စိနှစ်လုံး၊ လျှာတစ်ခု၊ နှုတ်ခမ်းနှစ်ခုကို ထိုလူသားအား အသူ ပေးထားသနည်း။ ပေးသူမှာ အခြားမဟုတ်၊ အလ္လာဟ်အရှင်မြတ်ပင်။

ထိုအရှင်မြတ်သည်ပင် ထိုလူသားအား ကြည့်ရှုရန်အလို့ငှာ မျက်စိနှစ်လုံးကို ပေးသနားတော်မူသည်။ ထိုအရှင်မြတ်သည်ပင် ထိုလူသားအား မိမိ၏ စိတ်အတွင်းရှိအရာများကို ဖွင့်ဟထုတ်ဖော် ပြောနိုင်ရန်အလို့ငှာ၊ စားသောက်နိုင်ရန်အလို့ငှာ လျှာတစ်ခုနှင့်နှုတ်ခမ်းနှစ်ခုကို ပေးသနားတော်မူသည်။

ထိုအရှင်မြတ်သည် ထိုလူသားအား အကောင်းနှင့်အဆိုးကို စဉ်းစားဆင်ခြင် ခွဲခြားမြင်နိုင်ရန်အလို့ငှာ (အကောင်းနှင့်အဆိုး) လမ်းနှစ်သွယ်ကိုလည်း ညွှန်ပြထားတော်မူသည်။ သို့ဖြစ်ရာ ထိုလူသားသည် ဤသည့် ကြီးမားလှသော ကျေးဇူးတော်များကို သိတတ်ရာ၏။ ကျေးဇူးတော်ရှင် အလ္လာဟ်အရှင်မြတ်သခင်အား ကိုးကွယ်ရာ၏၊ နာခံရာ၏၊ ထိုအရှင်မြတ်၏ သာသနာတော်ကို လိုက်နာ ကျင့်သုံးရာ၏၊ ကျေးဇူးရှင်အား ကျေးမစွပ်ရာ။

**မှတ်ချက်။** အားလုံးသူတို့အား မျက်စိအလင်း ပေးတော်မူသောအရှင်သည် မိမိကိုယ်တော်တိုင် အသို့လျှင် မြင်တော်မမူဘဲ ရှိတော်မူနိုင်အံ့နည်း။ အားလုံးတို့အား မျက်စိအလင်း ပေးတော်မူသော အရှင်သည် အားလုံးတို့ထက် အတိုင်းအဆမရှိ ပိုမိုမြင်တော် မူမည်သာတည်း။

**မှတ်ချက်။** လူသားအား အကောင်း၊ အဆိုး လမ်းနှစ်သွယ် ညွှန်ပြတော်မူခြင်းမှာ အကျဉ်းသဘောပ အားဖြင့် အသိဉာဏ်နှင့် သဘာဝအရ ဖြစ်၏။ အကျယ်ဝိတ္ထာရအားဖြင့် တမန်တော်များ၏ ရှင်းလင်းပြသချက်အရ ဖြစ်၏။

အချို့က လမ်းနှစ်သွယ်ဟူသည် မိခင်၏(နို့အုံ) အသားမြတ်နှစ်ခုကို ရည်ညွှန်းသည်ဟု ယူဆကြသည်။ ဆိုလိုသည်ကား အလ္လာဟ်အရှင်မြတ်သည် အမိဝမ်းတွင်းမှ မွေးဖွားစ သားငယ်ကို နို့စို့ရန် ညွှန်ပြတော်မူသည်ဟူ၏။

وَمَآ أَدۡرَىٰكَ مَا ٱلۡعَقَبَةُ ⑫
၁၂။ စင်စစ် တောင်ကြားလမ်းသည် အဘယ်နည်း၊ အသင် သိပါသလော။

فَكُّ رَقَبَةٍ ⑬
၁၃။ ကျွန် တစ်ဦးတစ်ယောက်အား (ကျွန်ဘဝမှ) လွတ်မြောက်စေခြင်းပင်။

أَوۡ إِطۡعَٰمٞ فِي يَوۡمٖ ذِي مَسۡغَبَةٖ ⑭
၁၄။ သို့တည်းမဟုတ် ငတ်မွတ်သောနေ့တွင် ကျွေးမွေးခြင်းပင်။

يَتِيمٗا ذَا مَقۡرَبَةٍ ⑮
၁၅။ ဆွေမျိုးနီးစပ်ဖြစ်သော ဘမဲ့ကလေးသူငယ် တစ်ဦးတစ်ယောက်ကိုသော်လည်းကောင်း။

أَوۡ مِسۡكِينٗا ذَا مَتۡرَبَةٖ ⑯
၁၆။ မြေကြီးပေါ် လူးလိမ့်နေသော ဒုက္ခိတသူဆင်းရဲ တစ်ဦးတစ်ယောက်ကိုသော် လည်းကောင်း။ ၁

ثُمَّ كَانَ مِنَ ٱلَّذِينَ ءَامَنُواْ وَتَوَاصَوۡاْ بِٱلصَّبۡرِ وَتَوَاصَوۡاْ بِٱلۡمَرۡحَمَةِ ⑰
၁၇။ ထို့နောက် အကြင်သူတို့တွင် ပါဝင်ခြင်းပင်၊ ထိုသူတို့သည် "အီမာန်" သက်ဝင်ယုံကြည်ခဲ့ကြကုန်၏။ ၎င်းပြင် ထိုသူတို့သည် အချင်းချင်း တစ်ဦးကိုတစ်ဦး သည်းခံကြရန် လေးနက်စွာ ဆုံးမခဲ့ကြကုန်၏။ ထိုနည်းတူစွာ အချင်းချင်း တစ်ဦးကိုတစ်ဦး ကရုဏာတရားထားရှိကြရန်လည်း လေးနက်စွာ ဆုံးမခဲ့ကြကုန်၏။

---

(၁) အလ္လာဟ်အရှင်မြတ်သည် လူသားအား လိုလေသေးသည်မရှိ၊ အတိုင်းအဆမရှိ၊ ကျေးဇူးတော်များ ပြုထားတော်မူပါလျက်၊ တရားရရှိနိုင်ရန် အကြောင်းတရားများ အသင့်စီမံ ဖန်တီး ပေးထားတော်မူပါလျက်၊ လူသားသည် "အကဗဟ်" (ဝါ) သာသနာ၏လမ်းစဉ်ကို မလိုက်နာပေ။ ကောင်းမြတ်သော ကိုယ်ကျင့်တရားကို လက်ခံနာယူကျင့်မူကာ အောင်မြင်မှု၏ အထွတ်အထိပ်သို့ မရောက်ရှိပေ။ ဤကား လူသား၏ ပေါ့လျော့မှု၊ မှားယွင်းမှုတည်း။

ဤအာယတ်တော်တွင် သာသနာ၏လမ်းစဉ်ကို "အကဗဟ်"ဟူ၍ သုံးနှုန်းထားတော်မူသည်။ သို့သုံးနှုန်းထားတော်မူခြင်းမှာ သာသနာ၏အဆုံးအမများကို လိုက်နာကျင့်သုံးရာတွင် စိတ်၏အလိုကို ဆန့်ကျင်ပြီးပြုလုပ်ရသည့်အတွက် ခဲယဉ်းခြင်းကြောင့် ဖြစ်ပေသည်။

"အကဗဟ်"ဟူသည်ကား အဘယ်နည်း၊ ဤသည့် အမေးပုစ္ဆာကို ကုရ်အာန်ကျမ်းမြတ်မှာပင် ရှင်းလင်းပြထားတော်မူသည်။ "အကဗဟ်"ဟူသည် ကျေးကျွန်များကို ကျေးကျွန်အဖြစ်မှ လွတ်မြောက်စေခြင်း၊ ➤➤

أُولَٰئِكَ أَصْحَابُ الْمَيْمَنَةِ ﴿١٨﴾

၁၈။ ထိုသူတို့ကား လက်ယာဘက်သားများပင် ဖြစ်ကြကုန်၏။

وَالَّذِينَ كَفَرُوا بِآيَاتِنَا هُمْ أَصْحَابُ الْمَشْأَمَةِ ﴿١٩﴾

၁၉။ သို့ရာတွင် အကြင်သူတို့သည် ငါအရှင်မြတ်၏အာယတ်တော်များကို သွေဖည်ငြင်းပယ်ခဲ့ကြကုန်၏။ ထိုသူတို့ကား လက်ဝဲဘက်သားများပင် ဖြစ်ကြကုန်၏။

عَلَيْهِمْ نَارٌ مُّؤْصَدَةٌ ﴿٢٠﴾

၂၀။ ၎င်းတို့အပေါ်၌ ပိတ်လှောင်ထားသော ဖုံးအုပ်ထားသော မီးသည် လွှမ်းခြုံလျက်ပင် ရှိချေအံ့သတည်း။ [၁]

---

➤➤ ကယ်တင်ခြင်း၊ ငတ်မွတ်ခေါင်းပါးသော အချိန်အခါတွင် ငတ်မွတ်နေသူများအား ကျွေးမွေးခြင်း၊ မိတဆိုး၊ ဖတဆိုး အထူးသဖြင့် သားချင်းတော်စပ်သော မိတဆိုး၊ ဖတဆိုးများကို ကျွေးမွေးပြုစုခြင်း၊ ဘူမိကမ္ဘလာမြေကို အိပ်ရာ ပြုလုပ်နေရရှာသော၊ မြေပေါ်တွင် ကုန်းကောက်စရာမျှမရှိသော ဆင်းရဲသားကျောမွဲတို့အား ထောက်ပံ့သဂြိုဟ်ခြင်းများတည်း။

ကျေးကျွန်များအား ကျေးကျွန်အဖြစ်မှ လွတ်မြောက်စေခြင်းတွင် ကြွေးမြီတင်ရှိနေသူများ၏ ကြွေးမြီများကို စိုက်ထုတ်ပေးဆပ်ခြင်းသည်လည်း အကျုံးဝင်ပေသည်။

(၁) အထက်ဖော်ပြပါ "အကာဗဟ်" သာသနာ့လမ်းစဉ်များကို အလ္လာဟ်အရှင်မြတ် နှစ်သက်လက်ခံတော်မူရန်အတွက် လူသားသည် အီမာန်ယုံကြည်ရမည်။ "အီမာန်"သည် အဓိကစည်းကမ်းချက်ပင် ဖြစ်သည်။ အီမာန်မရှိက ပြုသမျှ အချည်းနှီးသာတည်း။

ထို့ပြင်တဝ လူသားသည် အမိန့်၊ ပညတ်အရပ်ရပ်ကို လိုက်နာကျင့်သုံးရာတွင် တွေ့ကြုံရသည့် ဆင်းရဲမှုအဝဝကိုလည်း သည်းခံရပေမည်။

ထို့ပြင်တဝ အလ္လာဟ်အရှင်မြတ် ဖန်ဆင်းတော်မူသော ကမ္ဘာသူ၊ ကမ္ဘာသား အဖန်ဆင်းခံအားလုံးတို့အား ထောက်ထားစာနာ၊ လေးစား သနားကြင်နာရမည်။ သို့အဖန်ဆင်းခံ အားလုံးတို့အား သနားကြင်နာပါက အလ္လာဟ်အရှင်မြတ်သည် သနားကြင်နာတော်မူပေမည်။

ထိုသို့သော လူသားတို့သည် လက်ယာဘက်သားများ (ဝါ) အကြောင်းလှသူများ၊ မင်္ဂလာရှိသူများတည်း။ ၎င်းတို့သည် စာရင်းအင်းများကို လက်ယာလက်တွင် ပေးအပ်ခြင်း ခံကြရပေမည်၊ ဂျန္နတ်တွင် ထာဝစဉ် စံစားကြရပေမည်။ သို့ရာတွင် အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်များကို သွေဖည်ငြင်းဆန်မနာခံသော ကာဖိရ်များမူကား လက်ဝဲဘက်သားများ (ဝါ) ၎င်းတို့သည် စာရင်းအင်းများကို လက်ဝဲဘက်လက်တွင် ပေးအပ်ခြင်းခံကြရပေမည်၊ ဂျဟန္နမ်ငရဲတွင် ထာဝစဉ်လားကြရပေမည်။

# သူရိယကဏ္ဍ




ဤကဏ္ဍသည် "အရှ်ရှမ်စ်" သူရိယကဏ္ဍမည်၏။ မက္ကာမြို့တော်၌ ကျရောက်ခဲ့၏။
ဤကဏ္ဍတွင် အာယတ်တော် (၁၅) ပါး ပါရှိ၏။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ

မပြတ်မစဲ သနားကြင်နာ ညှာတာတော်မူသော
မဟာကရုဏာတော်ရှင် ဖြစ်တော်မူသော
အလ္လာဟ်အရှင်မြတ်၏နာမံတော်ဖြင့် အစပြုပါ၏။

وَالشَّمْسِ وَضُحٰهَا ①

၁။ (ငါ အရှင်မြတ်သည်) နေကိုလည်းကောင်း၊ ထိုနေ၏အလင်းရောင်၊ အလင်းရောင်တက်ချိန်ကိုလည်းကောင်း၊ သက်သေထူတော်မူ၏။

وَالْقَمَرِ اِذَا تَلٰهَا ②

၂။ ထို့ပြင် (ငါအရှင်မြတ်သည်) လစန္ဒာကို သက်သေထူတော်မူ၏။ အကြင်အခါ၀ယ် ထိုလစန္ဒာသည် ယင်းနေ၏နောက်မှလိုက်၏။

وَالنَّهَارِ اِذَا جَلّٰهَا ③

၃။ ၎င်းပြင် (ငါအရှင်မြတ်သည်)နေ့ကို သက်သေထူတော်မူ၏။ အကြင်အခါ၀ယ် ထိုနေ့သည် ယင်းနေကို လင်း၀င်းစေ၏။

وَالَّيْلِ اِذَا يَغْشٰهَا ④

၄။ ထို့ပြင် (ငါအရှင်မြတ်သည်) ညဥ့်ကို သက်သေထူတော်မူ၏။ အကြင်အခါ၀ယ် ထိုညဥ့်သည် ယင်းနေကို ဖုံးလွှမ်းလေ၏။ [၁]

---

(၁) အလ္လာဟ်အရှင်မြတ်၏ "ဟိက်မတ်" ဉာဏ်တော်ကား ဆန်းကြယ်လှ၏။ အံ့မဆုံးတည်း။ ထိုအရှင်မြတ်သည် နေနှင့်လ၊ နေ့နှင့်ည၊ မိုးနှင့်မြေ စသည်တို့ကို ဆန့်ကျင်ဘက် ဖန်ဆင်း ထားတော်မူသည်။ ထို့အတူ လူသား၌လည်း အကောင်း,အဆိုး နှစ်ရပ်စလုံးကို ဖန်ဆင်းထားတော်မူသည်။ ထိုအကောင်းနှင့်အဆိုးကို ခွဲခြားဆင်ခြင် သိမြင်နိုင်ရန် အသိတရားလည်း ပေးထားတော်မူသည်။

ထိုသည့် အကောင်းနှင့်အဆိုး နှစ်ရပ်အနက် မိမိစေတနာအလျောက် ကြိုက်နှစ်သက်ရာကို ရွေးချယ်ကျင့်သုံးနိုင်ရန် စွမ်းရည်လည်း ပေးထားတော်မူသည်။ ယင်းသို့အားဖြင့် ထိုအရှင်မြတ်သည် အမျိုးမျိုး အစားစား အပြားပြားသော အကျင့်အမူများအပေါ်၌ အမျိုးမျိုးသော အကျိုးတရားများကိုလည်း သက်ရောက်စေတော်မူသည်။ ➤➤

وَالسَّمَآءِ وَمَا بَنٰهَا ۝٥

၅။ ထို့ပြင် (ငါအရှင်မြတ်သည်) မိုးကောင်းကင်ကိုလည်းကောင်း၊ ထိုမိုးကောင်းကင်ကို ပြုလုပ် ဖန်ဆင်းတော်မူသောအရှင်ကိုလည်းကောင်း၊ သက်သေထူတော်မူ၏။ [၁]

وَالْاَرْضِ وَمَا طَحٰهَا ۝٦

၆။ ထို့ပြင် (ငါအရှင်မြတ်သည်) ပထဝီမြေကိုလည်းကောင်း၊ ထိုပထဝီမြေကို ဖြန့်ခင်းတော်မူသောအရှင်ကိုလည်းကောင်း၊ သက်သေထူတော်မူ၏။

وَنَفْسٍ وَّمَا سَوّٰىهَا ۝٧

၇။ ထိုမှတပါး အသက်ဇီဝိန်ကိုလည်းကောင်း၊ ထိုအသက်ဇီဝိန်ကို စုံလင်အောင် ပြုလုပ်တော်မူသောအရှင်ကိုလည်းကောင်း၊ သက်သေထူတော်မူ၏။

فَاَلْهَمَهَا فُجُوْرَهَا وَتَقْوٰىهَا ۝٨

၈။ တဖန် ထိုအရှင်မြတ်သည် ထိုအသက်ဇီဝိန်တွင်းဝယ် ထိုအသက်ဇီဝိန်၏ ပြစ်မှုဒုစရိုက်(၏အသိ)ကိုလည်းကောင်း၊ ကောင်းမှုသုစရိုက်(၏ အသိ)ကိုလည်းကောင်း၊ ထည့်သွင်းပေးတော်မူခဲ့၏။ [၂]

---

➤➤ ဤစကြာဝဠာကြီးတွင် အကောင်းနှင့်အဆိုး ရှိနေခြင်းမှာ အလင်းနှင့်အမှောင် ရှိနေသကဲ့သို့ပင် လျော်ကန်သင့်မြတ်လှပေသည်။ (ဤကား အလုံးစုံကို အကြွင်းမဲ့ သိတော်မူသောအရှင်၏ 'ဟိကမတ်' ဉာဏ်တော်၏ အံ့မဆုံးသော လက်ရာတော်တည်း)။

(၁) ဤကဏ္ဍ၏ အာယတ်တော် (၅-၇) တွင် ပါရှိသော "မာ" ဟူသော ပုဒ်သည် အချို့က "မန်" (အကြင်သူ)၏ အနက်၌ ဖြစ်သည်ဟုဆိုကြ၏။ အချို့ကမူ "မာမဆွ်ဒရိယဟ်" ဖြစ်သည်ဟု ဆိုကြ၏။

ဆိုလိုသည်ကား အချို့က ဥပမာ (وَالسَّمَآءِ وَمَا بَنٰهَا) ကို "မိုးကောင်းနှင့် ထိုမိုးကောင်းကင်ကို တည်ဆောက်တော်မူသော အရှင်အား သက်သေထူတော်မူသည်" ဟူ၍လည်းကောင်း၊

အချို့က "မိုးကောင်းကင်နှင့် ထိုမိုးကောင်းကင်ကို တည်ဆောက်တော်မူခြင်းကို သက်သေထူတော်မူသည်" ဟူ၍လည်းကောင်း ဖွင့်ဆိုကြသည်။

(၂) "အိလ်ဟာမ်" ဟူသည် စိတ်နှလုံးအတွင်းသို့ ထည့်သွင်းပေးခြင်းကိုဆိုသည်။ ဤအာယတ်တော်တွင် လူသားအား အကောင်းနှင့်အဆိုးကို 'အိလ်ဟာမ်' ပြုတော်မူခြင်း ဟူသည် လူသားအား အကောင်းနှင့်အဆိုးကို အသိပေးခြင်း၊ အကောင်းနှင့်အဆိုးကို ရွေးချယ်ပြုစွမ်းနိုင်ရန် စွမ်းရည်ပေးခြင်းကို ဆိုလိုသည်။

ရှင်းလင်းပြဦးအံ့-အလ္လာဟ်အရှင်မြတ်သည် ဦးစွာပထမလူသားအား ဖြူစင်သော အသိဉာဏ်၊ မှန်ကန်သောသဘာဝကိုချီးမြှင့်၍ အကောင်းနှင့်အဆိုးကို အကျဉ်းအားဖြင့် သိစေတော်မူသည်။ ထို့နောက် တမန်တော်များမှတဆင့် အကောင်းနှင့်အဆိုးကို အကျယ်တဝင့် အသေးစိတ် သိစေတော်မူသည်။ ➤➤

قَدْ أَفْلَحَ مَن زَكَّاهَا ⑨

၉။ စင်စစ်ကေန် ထိုအသက်ဇီဝိန်ကို သဟ္ဂာယ ဖြစ်အောင် စင်ကြယ် သန့်ရှင်းစေခဲ့သောသူသည် အောင်မြင်ခဲ့လေပြီ။

وَقَدْ خَابَ مَن دَسَّاهَا ⑩

၁၀။ သို့ရာတွင် ထိုအသက်ဇီဝိန်ကို (ဒုစရိုက်မှုများ တွင်) နစ်မြုပ်စေခဲ့သော သူသည် ပျက်စီးဆုံးရှုံးခဲ့ ချေပြီတကား။ [၁]

كَذَّبَتْ ثَمُودُ بِطَغْوَاهَا ⑪

၁၁။ *"ဆမူဒ်" အမျိုးသားတို့သည်* [၂] မိမိတို့၏ ဆိုးသွမ်းမှုကြောင့် (နဗီတမန်တော် ဆွာလစ်ဟ်အား) မဟုတ်မမှန်ဟူ၍ ငြင်းပယ်ခဲ့ကြကုန်၏။

---

➤➤ ပြီးနောက် လူသား၏စိတ်တွင် အကောင်းပြုရန် အာသီသလည်း ပေါ်ပေါက်၏၊ အဆိုးပြုရန် ဆန္ဒလည်း ပေါ်ပေါက်၏။ အကောင်းနှင့်အဆိုးကို အလ္လာဟ်အရှင်မြတ်ပင် ဖန်ဆင်းထားတော်မူ၏။

သို့တစေလည်း အကောင်းပြုရန်အာသီသကို ပထမသော် ကောင်းကင်တမန်က ဖြစ်ပေါ်စေ၏။ အဆိုးပြုရန်ဆန္ဒကို ပထမသော် ရှိုင်တွာန်ကဖြစ်ပေါ်စေ၏။ ထို့နောက် ထိုသည့် အာသီသ၊ ဆန္ဒသည် တစ်ခါတစ်ရံ လူသား၏စေတနာဖြင့် အဆင့်ဆင့်ရင့်ကျက်ကာ သန္နိဋ္ဌာန်ဘဝသို့ ရောက်ရှိလာ၏။ထိုသည့် သန္နိဋ္ဌာန်သည်ပင် အကောင်းသို့မဟုတ် အဆိုးကို ကာယကံမြောက် ပြုလုပ်ရန် အကြောင်း တရားဖြစ်လာ၏။

အမှန်မှာ အကောင်းနှင့်အဆိုးကို ဖန်ဆင်းတော်မူသောအရှင်မှာ အလ္လာဟ်အရှင်မြတ်ပင်ဖြစ်တော်မူ၏။ ထိုအကောင်းနှင့်အဆိုးကို ကာယကံမြောက်ဆည်းပူးသူမှာ လူသားပင်ဖြစ်၏။ ဤသည့် အကောင်း၊ အဆိုး ဆည်းပူးမှုတည်းဟူသော အကြောင်းတရားပေါ်တွင် ကျိုးပြစ်တည်းဟူသော အကျိုးတရားသည် ဆက်စပ် တည်ရှိနေပေသည်။

(၁) စိတ်နှလုံး၏ စင်ကြယ်သန့်ရှင်ခြင်းဟူသည် ကာမဂုဏ်စိတ်၊ ဒေါသစိတ်စသည့် အကုသိုလ်စိတ်များကို အသိတရား၏ နောက်လိုက်ဖြစ်စေပြီး အသိတရားကို အလ္လာဟ်အရှင်မြတ်၏ တရားတော်၏ နောက်လိုက် ဖြစ်စေခြင်းပင်။ သို့ဖြင့် စိတ်နှလုံးသည် အလ္လာဟ်အရှင်မြတ်၏ တရားရောင်ခြည်တော်များဖြင့် လင်းဝင်း တောက်ပလျက် ရှိပေမည်။ ထိုသို့သောသူသည် အောင်မြင်ပြီသာတည်း။

စိတ်နှလုံးကို မြေတွင်နစ်မြုပ်စေခြင်းဟူသည် စိတ်နှလုံးကို အသိတရားနှင့်လည်းကောင်း၊ အလ္လာဟ်အရှင်မြတ်၏ တရားတော်နှင့် လည်းကောင်း မည်သို့မျှမပတ်သက်စေဘဲ စိတ်၏ဇက်ကြိုးကို ကာမဂုဏ် စိတ်၊ ဒေါသစိတ်စသည့် အကုသိုလ်စိတ်များသို့ လုံးဝ ဝ,ကွက်အပ်ခြင်းပင်။ ထိုသို့သော လူသားသည် တစ်နည်းအားဖြင့် ကာမတဏှာ၏ကျွန်သာ ဖြစ်ပေသည်။ ယင်းသို့သောလူသားသည် တိရစ္ဆာန်ထက်ပင် ဆိုးရွားပေသည်။ ဆုံးရှုံးမည်သာတည်း။

(၂) ဆမူဒ်အမျိုးသားများအကြောင်း၊ တမန်တော် ဆွာလစ်ဟ်အကြောင်း၊ တမန်တော်ဆွာလစ်ဟ်အား ဆမူဒ် အမျိုးသားများက သွေးဖည်ခဲ့သည့်အကြောင်း၊ အလ္လာဟ်အရှင်မြတ်၏ ကုလားအုတ်မကို သတ်ဖြတ်ခဲ့သည့်➤➤

إِذِ انۢبَعَثَ أَشۡقَىٰهَا ﴿١٢﴾

၁၂။ အကြင်အခါဝယ် ၎င်းတို့အနက်မှ အယုတ်မာဆုံးသောသူသည် အရှိန်နှင့်ထွက်ပေါ်လာခဲ့၏။

فَقَالَ لَهُمۡ رَسُولُ ٱللَّهِ نَاقَةَ ٱللَّهِ وَسُقۡيَٰهَا ﴿١٣﴾

၁၃။ ထိုအခါ အလ္လာဟ်အရှင်မြတ်၏ရစူလ်တမန်တော်(ဆွာလစ်ဟ်)က ၎င်းတို့အား(အချင်းတို့) အသင်တို့သည် အလ္လာဟ်အရှင်မြတ်၏ကုလားအုတ်မကို (သတ်ဖြတ်ခြင်းမှ)လည်းကောင်း၊ ထိုကုလားအုတ်မ ရေသောက်ခြင်းကို (တားမြစ်ခြင်းမှ)လည်းကောင်း၊ (ရှောင်ကြဉ်ကြလေကုန်ဟု) ပြောကြား(သတိပေး)ခဲ့လေ၏။

فَكَذَّبُوهُ فَعَقَرُوهَا فَدَمۡدَمَ عَلَيۡهِمۡ رَبُّهُم بِذَنۢبِهِمۡ فَسَوَّىٰهَا ﴿١٤﴾

၁၄။ သို့ရာတွင် ထို"ဆမူဒ်" အမျိုးသားတို့သည် (အလ္လာဟ်အရှင်မြတ်၏) ထိုရစူလ်တမန်တော်အား မဟုတ်မမှန်ဟူ၍ ငြင်းဆိုခဲ့ပြီးနောက် ထိုကုလားအုတ်မ ၏ခြေများကို ဖြတ်တောက်ခဲ့ကြကုန်၏။ ထိုအခါ ၎င်းတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်သည် ၎င်းတို့၏အပေါ်၌ ၎င်းတို့၏ပြစ်မှုများကြောင့် ပြစ်ဒဏ်ကို စီရင်တော်မူခဲ့၏။ ထို့နောက် ထိုအရှင်မြတ်သည် ထိုပြစ်ဒဏ်ကို အားလုံးနှင့် သက်ဆိုင်စေတော်မူခဲ့၏။ (အားလုံးအပေါ်သို့ ပျံ့နှံ့သက်ရောက်စေတော်မူခဲ့လေသည်)။

وَلَا يَخَافُ عُقۡبَٰهَا ﴿١٥﴾

၁၅။ စင်စစ် ထိုအရှင်မြတ်သည် ထိုပြစ်ဒဏ်၏ နောက်ဆက် (ဖြစ်ပေါ်လာမည့် တုံ့ပြန်မှု၊ ဒဏ်ပြန်မှု) ကို အလျင်းစိုးရိမ်တော်မူသည် မဟုတ်ပေတကား။

---

➤➤ အကြောင်း၊ နောက်ဆုံးတွင် အလ္လာဟ်အရှင်မြတ်သည် ဆမူဒ်အမျိုးသားတို့အား ကွပ်မျက်ချေမှုန်းတော်မူလိုက်သည့်အကြောင်းများကို ကုရ်အာန် (၇း၇၃-၇၉)တွင် အကျယ်ဖွင့်ဆိုရေးသားခဲ့ပေပြီ။

# ညဉ့်ကဏ္ဍ

سُوْرَةُ اللَّيْلِ

ဤကဏ္ဍသည် "အလ်လိုင်လ်" ညဉ့် ကဏ္ဍမည်၏။ မက္ကာမြို့တော်၌ ကျရောက်ခဲ့၏။
ဤကဏ္ဍတွင် အာယတ်တော် (၂၁) ပါး ပါရှိ၏။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ

မပြတ်မစဲ သနားကြင်နာ ညှာတာတော်မူသော၊ မဟာကရုဏာတော်ရှင်ဖြစ်တော်မူသော အလ္လာဟ်အရှင်မြတ်၏ နာမ်တော်ဖြင့်အစပြုပါ၏။

وَالَّيْلِ اِذَا يَغْشٰى ﴿١﴾

၁။ (ငါအရှင်မြတ်သည်) ညဉ့်ကို သက်သေထူတော်မူ၏။ အကြင်အခါဝယ် ထိုညဉ့်သည် လွှမ်းမိုးလေ၏။

وَالنَّهَارِ اِذَا تَجَلّٰى ﴿٢﴾

၂။ ၎င်းပြင် နေ့ကို သက်သေ ထူတော်မူ၏။ အကြင်အခါဝယ် ထိုနေ့သည် လင်းဝင်းလေ၏။

وَمَا خَلَقَ الذَّكَرَ وَالْاُنْثٰى ﴿٣﴾

၃။ ထို့ပြင် အဖိုကိုလည်းကောင်း၊ အမကိုလည်းကောင်း၊ ဖန်ဆင်းတော်မူသောအရှင်ကို သက်သေထူတော်မူ၏။

اِنَّ سَعْيَكُمْ لَشَتّٰى ﴿٤﴾

၄။ ကေန်စင်စစ် အသင်တို့၏ ကြိုးပမ်းဆောင်ရွက်မှုသည် အပြားပြားဖြစ်၏။ [၁]

فَاَمَّا مَنْ اَعْطٰى وَاتَّقٰى ﴿٥﴾

၅။ သို့ဖြစ်ပေရာ မည်သို့ပင်ဖြစ်စေ၊ အကြင်သူသည် ပေးကမ်းလှူဒါန်းလေ၏။ ၎င်းပြင် ထိုသူသည် (အလ္လာဟ်အရှင်မြတ်အား) ကြောက်ရွံ့လေ၏။

---

(၁) ဤပစ္စက္ခတွင် နေ့နှင့်ညဉ့်၊ အဖိုနှင့်အမ စသည်များဖြင့် အမျိုးမျိုး အစားစား အပြားပြား ဆန့်ကျင်ဘက်များရှိသကဲ့သို့ လူသားတို့၏ အကျင့်အမူများ၊ ကြိုးပမ်းမှုများလည်း အမျိုးမျိုး အစားစား အပြားပြား ရှိကြပေသည်။ အကျင့်အမူများ၊ ကြိုးပမ်းမှုများ ကွဲပြားခြားနားသည့်အလျောက် ထိုသည့် အကျင့်အမူများ၊ ကြိုးပမ်းမှုများ၏ နောက်တွင် ဖြစ်ပေါ်လာမည့် အကျိုးတရားများသည်လည်း ကွဲပြားခြားနားလျက် ရှိပေမည်။ ဤသည့်သဘောကိုပင် ရှေ့တွင် မိန့်ဆိုထားတော်မူသည်။

وَصَدَّقَ بِالْحُسْنٰى ⑥

၆။ ထိုမှတပါး ထိုလူသည် ကောင်းမြတ်သော အရာကို ဟုတ်မှန်သည်ဟု ယုံကြည်လက်ခံလေ၏။

فَسَنُيَسِّرُهٗ لِلْيُسْرٰى ⑦

၇။ သို့ဖြစ်လျှင် မကြာမီပင် ငါအရှင်မြတ်သည် ထိုသူအား လွယ်ကူမှုသို့ ပို့ပေးတော်မူသည်။ [၁]

وَ اَمَّا مَنْۢ بَخِلَ وَاسْتَغْنٰى ⑧

၈။ သို့ရာတွင် မည်သို့ပင်ဖြစ်စေ၊ အကြင်သူသည် (ပေးကမ်းလှူဒါန်းခြင်းမပြုဘဲ) စေးနဲ၏။ ၎င်းပြင် ထိုသူသည် (မိမိကိုယ်ကို) လိုလားတောင့်တခြင်း ကင်းမဲ့သည်ဟု ထင်မှတ်လေ၏။

وَكَذَّبَ بِالْحُسْنٰى ⑨

၉။ ထိုမှတပါး ထိုသူသည် ကောင်းမြတ်သော အရာကို မဟုတ်မမှန်ဟု ငြင်းဆိုလေ၏။

فَسَنُيَسِّرُهٗ لِلْعُسْرٰى ⑩

၁၀။ သို့ဖြစ်လျှင် မကြာမီပင် ငါအရှင်မြတ်သည် ထိုသူအား ခက်ခဲမှုသို့ ပို့ပေးတော်မူမည်။

وَمَا يُغْنِىْ عَنْهُ مَالُهٗۤ اِذَا تَرَدّٰى ⑪

၁၁။ ၎င်းပြင် ထိုသူသည် တွင်းထဲသို့ကျသောအခါ ၎င်း၏ပစ္စည်းဥစ္စာသည် ၎င်း၏အဖို့ အသုံးဝင်လိမ့်မည် မဟုတ်ပေတကား။ [၂]

---

① အကြင်သူတစ်ဦးသည်၊

(၁) ကောင်းမြတ်သော လမ်း၌ ပေးကမ်းလှူဒါန်း၏။

(၂) အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ရိုသေ ခန့်ညား၏။

(၃) အစ္စလာမ်၏ ကောင်းမြတ်သော အဆုံးအမများနှင့် အလ္လာဟ်အရှင်မြတ်၏ တရားတော်များကို မှန်ကန်သည်ဟု ယုံကြည်၏။ နာယူကျင့်မူ၏။

ထိုသို့သောသူအဖို့ အလ္လာဟ်အရှင်မြတ်သည် ကောင်းမြတ်သောလမ်းစဉ်ကို လွယ်ကူစေတော်မူသည်။ နောက်ဆုံးတွင် အတိုင်းမရှိ လွယ်ကူသော၊ သုခနှင့်ပြည့်ဝသော ဌာနသို့ ပို့ပေးတော်မူသည်။ ထိုဌာနကား အခြားမဟုတ်၊ "ဂျန္နတ်" ပင်တည်း။ ကြည့်-ကုရ်အာန် (၁၇း၁၈-၂၀)။

② အကြင်သူတစ်ဦးသည်၊

(၁) အလ္လာဟ်အရှင်မြတ်၏လမ်းတော်တွင် ပေးကမ်းလှူဒါန်းရာ၌ စေးနဲတွန့်တို၏။

(၂) အလ္လာဟ်အရှင်မြတ်၏ နှစ်သက်မှုနှင့် နောင်တမလွန်၏အကျိုးကို မလိုလား၊ဂရုမထား။

(၃) အလ္လာဟ်အရှင်မြတ်၏ တရားတော်များနှင့် အစ္စလာမ့် တရားတော်များကို မုသာဝါဒ အမှားမျှသာဟုဆို၏။



إِنَّ عَلَيْنَا لَلْهُدَىٰ ﴿١٢﴾

၁၂။ ကေန်မလွဲ တရားလမ်း ညွှန်ပြခြင်းသည် ငါအရှင်မြတ်၏တာဝန်ပင် ဖြစ်၏။

وَإِنَّ لَنَا لَلْآخِرَةَ وَالْأُولَىٰ ﴿١٣﴾

၁၃။ ထို့ပြင် ကေန်မလွဲ တမလွန်လောကကိုလည်းကောင်း၊ ဤမျက်မှောက် လောကကိုလည်းကောင်း၊ ငါအရှင်မြတ်သာလျှင် ပိုင်ဆိုင်တော်မူ၏။ ①

فَأَنذَرْتُكُمْ نَارًا تَلَظَّىٰ ﴿١٤﴾

၁၄။ သို့ဖြစ်ပေရာ ငါအရှင်မြတ်သည် အသင်တို့အား ဟုန်းဟုန်းတောက်လျက်ရှိသော (ငရဲ)မီးနှင့် စပ်လျဉ်း၍ သတိပေး နှိုးဆော်တော်မူခဲ့ပြီးဖြစ်၏။

➢➢ ထိုသို့သောသူ၏ စိတ်နှလုံးသည် တစ်နေ့တစ်ခြား ကျဉ်းမြောင်းလာ၏။ ခက်ထန်လာ၏။ မာကျောလာ၏။ ကောင်းမှုပြုရန်အကြောင်း သင့်မြတ်မှုသည် ဆုတ်ယုတ်ပျောက်ကွယ်သွား၏။ နောက်ဆုံးတွင်ထိုသူသည် အဆိုးရွားဆုံးဌာနသို့ ရောက်ရှိသွား၏။ ထိုဌာနကား အခြားမဟုတ်၊ ဂျဟန္နမ်ငရဲပင်။ ကြည့်-ကုရ်အာန်(၁၈း၁၈-၂၀)။

အမှန်မှာ ထိုသူသည် လူ့လောကတွင် ဥစ္စာဂုဏ်၊ ဓနဂုဏ်မောက်ကာ နောင်တမလွန်အရေးကို မေ့မှား၍မျှ စိတ်မဝင်စားခဲ့ပေ၊ ဂရုမထားခဲ့ပေ။ အလ္လာဟ်အရှင်မြတ်၏လမ်းတော်၌ တစ်ပြားတစ်ချပ်မျှ မသုံးစွဲခဲ့ပေ။ ယင်းသည့် ဥစ္စာဓနသည် နောင်တမလွန်ဘဝတွင် အလ္လာဟ်အရှင်မြတ်၏ပြစ်ဒဏ်တော်မှ ၎င်းအား အနည်းငယ် စိုးစဉ်းမျှပင် ကာကွယ်နိုင်မည်မဟုတ်ပေ။ ဥစ္စာဓနကြောင့်မောက်မာခဲ့သော၊ မော်မောက်ခဲ့သောကြောင့် တွင်းထဲကျဆုံးရပြီ။

① အလ္လာဟ်အရှင်မြတ်သည် မည်သူတစ်ဦးတစ်ယောက်ကိုမျှ အတင်းအဓမ္မလူကောင်း၊ လူဆိုးဖြစ်တော်မူသည် မဟုတ်။ သို့တစေလည်း ထိုအရှင်မြတ်သည် ဤအာယတ်တော်တွင် လာရှိသည့်အတိုင်း တရားဟောညွှန်ပြရန် တာဝန်ကိုမူ မိမိကိုယ်တော်တိုင် ယူထားတော်မူသည်။ သို့တာဝန်ယူထားတော်မူသည့်အလျောက် ထိုအရှင်မြတ်သည် တရားရရှိစိမ့်သောငှာ လိုလေသေးမရှိ အစီအစဉ်များကိုလည်း ပြုလုပ်ပေးထားတော်မူပြီးဖြစ်သည်။ လူသားတို့သည် အကောင်းနှင့်အဆိုး ကြိုက်နှစ်သက်ရာ လမ်းစဉ်ကို လွတ်လပ်စွာ ရွေးချယ်လိုက်နာကျင့်သုံးနိုင်ကြပြီ။

အချို့သည် အလ္လာဟ်အရှင်မြတ်အား ယုံကြည်မြတ်နိုး၍ ထိုအရှင်မြတ်၏ တရားတော်များကို ကြည်ဖြူစွာ နာယူကျင့်မူကြသည်။ အချို့မှာမူ အလ္လာဟ်အရှင်မြတ်အား သွေဖည်၍ ထိုအရှင်မြတ်၏ တရားတော်များကို ကျောခိုင်းကြသည်။ သို့ဖြစ်ရာ လူတိုင်းသည် မိမိတို့၏ အကျင့်အမူအလျောက် ကောင်းကျိုး၊ ဆိုးကျိုးများကို ခံစံကြရမည်သာဖြစ်သည်။

လူသားတို့သည် အလ္လာဟ်အရှင်မြတ်၏ အာဏာစက်အတွင်းမှ လွတ်မြောက်မသွားနိုင်ကြပေ။ အဘယ်ကြောင့်ဆိုသော် ထိုအရှင်မြတ်သည် စကြာဝဠာအဝန်းကို ပိုင်ဆိုင်တော်မူသည်။ ဤမျက်မှောက်လောကနှင့် နောင်တမလွန်ဘဝကိုလည်း ထိုအရှင်မြတ်သည်ပင် ပိုင်ဆိုင်တော်မူသည်။ ထို့အတွက် ဤမျက်မှောက်ဘဝတွင် လိုက်နာကျင့်သုံးရန် သတ်မှတ်ပြဋ္ဌာန်းထားတော်မူသော အမိန့်ပညတ်တော်များကို လိုက်နာကျင့်သုံးကြသည့်အလျောက်၊ နောင်တမလွန်ဘဝတွင် ကျိုးပြစ်ပေးတော်မူမည်သာဖြစ်ပေသည်။ ဤကား မလွဲမရှောင်သာသော အရေးအခင်းတည်း။

لَا يَصْلٰىهَآ اِلَّا الْاَشْقَى ﴿١٥﴾
၁၅။ ထို(ငရဲ)မီးထဲသို့ အလွန်အကြောင်းမလှသော သူ၊ ယုတ်မာသောသူသာလျှင် လားရမည်ဖြစ်၏။

الَّذِیْ كَذَّبَ وَتَوَلّٰى ﴿١٦﴾
၁၆။ အကြင်(အကြောင်းမလှသော)သူသည် (နဗီ တမန်တော်မြတ်အား) မဟုတ်မမှန်ဟူ၍ ငြင်းပယ်ကာ (အီမာန်သက်ဝင် ယုံကြည်ခြင်းမှလည်း) မျက်နှာလွှဲ ခဲ့၏။

وَسَيُجَنَّبُهَا الْاَتْقَى ﴿١٧﴾
၁၇။ သို့ရာတွင် (အလ္လာဟ်အရှင်မြတ်အား) အလွန် ကြောက်ရွံ့ရိုသေ ခန့်ညားသောသူမှာမူကား ထို(ငရဲ) မီးမှ ကင်းဝေးစေခြင်း ကိုခံရပေမည်။

الَّذِیْ يُؤْتِیْ مَالَهٗ يَتَزَكّٰى ﴿١٨﴾
၁၈။ အကြင် (ကြောက်ရွံ့ရိုသေခန့်ညားသော)သူ သည် မိမိ သန့်ရှင်းစင်ကြယ်အံ့သောငှာ မိမိ ဉစ္စာ ပစ္စည်းကို ပေးကမ်းလှူဒါန်း၏။

وَمَا لِاَحَدٍ عِنْدَهٗ مِنْ نِّعْمَةٍ تُجْزٰٓى ﴿١٩﴾
၁၉။ ၎င်း၏အပေါ်၌ ပြန်လည်ပေးဆပ်ရန် တဦး တစ်ယောက်၏ ကျေးဇူးတစ်စုံတစ်ရာမျှပင် မရှိပေ။

اِلَّا ابْتِغَآءَ وَجْهِ رَبِّهِ الْاَعْلٰى ﴿٢٠﴾
၂၀။ မိမိအား ဖန်ဆင်းမွေးမြူတော်မူသော အရှင် မြတ်၏ နှစ်သက်ကျေနပ်မှုကို ရယူရန် (ပေးကမ်း လှူဒါန်းခြင်း)သာ ဖြစ်၏။

وَلَسَوْفَ يَرْضٰى ﴿٢١﴾
၂၁။ စင်စစ် ထိုသူသည် မကြာမြင့်မီ အမှန်ပင် ကျေနပ်သွားမည် ဖြစ်သတည်း။ ၁

---

(၁) အလ္လာဟ်အရှင်မြတ်သည် ဟုန်းဟုန်းတောက်လျက်ရှိသော ငရဲမီးနှင့်စပ်လျဉ်း၍ သတိပေးတော်မူပြီး ဖြစ်သည်။ ထိုမီးထဲသို့ အစ္စလာမ်၏ အမှန်တရားကို မုသားဟုဆိုသော သွေဖည်သော သူယုတ်မာများသာလျှင် လားကြရပေမည်။ အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ရိုသေခန့်ညားသော မိမိ၏ပိုင်ဆိုင်သော ဉစ္စာပစ္စည်းများ ကိုလည်း "ရိယာ" ပြစားမှု တစ်စုံတစ်ရာလည်း မပါ၊ သူတပါး၏ ကျေးဇူးတုံ့ပြန်သည့် သဘောလည်းမဟုတ်ဘဲ၊ ဒုစရိုက်များမှ စင်ကြယ်သန့်ရှင်းစိမ့်သောငှာ (ဝါ) အလ္လာဟ်အရှင်မြတ်၏ နှစ်သက်မှုကို လိုလား၍သာ စေတနာသဒ္ဓါတရား ထက်သန်စွာ ပေးကမ်းလှူဒါန်းသော မွတ္တကီသူတော်စင်များမူကား ထိုငရဲမီးဘေးမှ လွတ်မြောက်ကြပေမည်။ ငရဲမီးဘေးမှ လွတ်မြောက်သည်သာမက ဂျန္နတ်တွင် အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်များကြောင့် အကျေနပ်ကြီး ကျေနပ်ကြပေမည်။

# နေတက်ချိန်ကဏ္ဍ

سُوْرَةُ الضُّحٰى

ဤကဏ္ဍသည် "အသွဳဟာ" နေတက်ချိန် ကဏ္ဍမည်၏။ မက္ကာမြို့တော်၌ ကျရောက်ခဲ့၏။ ဤကဏ္ဍတွင် အာယတ်တော် (၁၁)ပါး ပါရှိ၏။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ ○

မပြတ်မစဲ သနားကြင်နာ ညှာတာတော် မူသော၊ မဟာကရုဏာတော်ရှင် ဖြစ်တော်မူသော အလ္လာဟ်အရှင်မြတ်၏နာမံတော်ဖြင့် အစပြုပါ၏။

وَالضُّحٰى ①

၁။ (ငါအရှင်မြတ်သည်) နေတက်ချိန် (နေ၏ အလင်းရောင်)ကို သက်သေထူတော်မူ၏။

وَالَّيْلِ اِذَا سَجٰى ②

၂။ ၎င်းပြင် (ငါအရှင်မြတ်သည်) ညဥ့်ကို သက်သေထူတော်မူ၏။ အကြင်အခါဝယ် ထိုညဥ့်သည် လွှမ်းမိုးလေ၏။

مَا وَدَّعَكَ رَبُّكَ وَمَا قَلٰى ③

၃။ အသင့်အား ဖန်ဆင်း မွေးမြူတော်မူသော အရှင်မြတ်သည် အသင့်ကို စွန့်ပစ်၍ထားတော်မူသည် လည်းမဟုတ်၊ (အသင့်အား) မုန်းတီးတော်မူသည် လည်း မဟုတ်ပေ။ [၁]

---

(၁) **ထုတ်ပြန်ပို့ချတော်မူသည့်အကြောင်း။**

တစ်ကြိမ်သော် ကောင်းကင်တမန်ဂျိဗ်ရီလ်သည် တမန်တော်မြတ်ထံသို့ အချိန်အတော်ကြာညောင်းသည်အထိ ရောက်ရှိမလာခဲ့ပေ။ ('ဝဟီ' အမိန့်တော် ကျခြင်းမှလည်း ရပ်ဆိုင်းနေခဲ့ပေသည်)။ မုရှ်ရစ်က်များကလည်း "မုဟမ္မဒ်အား ၎င်း၏ အရှင်သခင်က စွန့်ပစ်ထားပြီ"ဟု ကဲ့ရဲ့ပြောဆိုကြလေသည်။ ထိုအခါ ဤအာယတ်တော် ကျရောက်လာခဲ့လေသည်။

ကျွန်ုပ်(မောင်လာနာ ရှဗ္ဗီရ် အဟ်မဒ် အွတ်ဆ်မာနီ)၏ ထင်မြင်ယူဆချက်အရ၊ ထိုအချိန်သည် တမန်တော်မြတ်ထံသို့ ဦးစွာပထမ စူရဟ် "အင်က်ရအ်"၏ အစပိုင်း အာယတ်တော်များ ကျရောက်လာပြီးနောက် အချိန်အတော်ကြာညောင်းသည်အထိ "ဝဟီ" ကျရောက်ခြင်း ရပ်တန့်နေခဲ့သော အချိန်ပိုင်းပင် ဖြစ်တန်ရာသည်။ တမန်တော်မြတ်သည် ထိုအချိန်တွင် အတော်ပင် စိတ်မချမ်းမသာဖြစ်လျက် ရှိတော်မူခဲ့၏။

ထို့နောက် အလ္လာဟ်အရှင်မြတ်ထံတော်မှ "ယာအိုင်ယုဟလ်မုဒ်ဒဖ်ဖိရ်" ဟူသော အာယတ်တော်များ ကျရောက်လာခဲ့၏။

➤➤

၄။ စင်စစ်သော်ကား အသင့်အဖို့ တမလွန်ဘဝသည် မျက်မှောက် လောကီဘဝထက် သာလွန်ကောင်းမြတ်လှ၏။ ၁

وَلَلْاٰخِرَةُ خَيْرٌ لَّكَ مِنَ الْاُوْلٰى ۝٤

>> ထိုသည့်အချိန်ပိုင်းအတွင်းမှာပင် ရန်သူများက ယင်းကဲ့သို့ ကဲ့ရဲ့ပြစ်တင်ခဲ့ကြဟန်ရှိ၏။ မုဟမ္မဒ် အိဗ်နုအစ္စဘာက်စသည့် ပညာရှင်ကြီးများထံမှတဆင့် ကောက်နုတ်ရေးသားဖော်ပြထားသော ကောက်နုတ်ချက်များ သည်လည်း ဤသည့်သဘောကိုပင် ထောက်ခံလျက်ရှိ၏။

အချို့ဟဒီးဆ်ဩဝါဒတော်များတွင် ပါရှိသည့်အကြောင်းသည်လည်း ထိုအချိန်ပိုင်း အတွင်းမှာပင် ဖြစ်ပေါ်ခဲ့ဟန် ရှိသည်။ ထိုအကြောင်းကား တစ်ခါသော် တမန်တော်မြတ်သည် မမာမကျန်းဖြစ်တော်မူသည့် အတွက် နှစ်ညဥ့်၊ သုံးညဥ့်တိုင် အိပ်ရာမှ ထတော်မမူနိုင်ခဲ့ပေ။ ထိုအခါ မိန်းမယုတ်တစ်ယောက်က "အို-မုဟမ္မဒ်၊ အသင့်အား အသင်၏ ရှိုင်တွာန်သည် စွန့်ပစ်ထားပြီ"ဟု (မပြောအပ်၊ မဆိုအပ်) ပြောဆိုခဲ့လေသည်။ ယင်းသည့် အကြောင်းရပ်အားလုံးကို ချေပဖြေရှင်းရန်အလို့ငှာ အလ္လာဟ်အရှင်မြတ်သည် ဤကဏ္ဍကို ထုတ်ပြန် ချမှတ်တော်မူလိုက်လေသည်။

အလ္လာဟ်အရှင်မြတ်သည် ဤကဏ္ဍ၏အစတွင် နေတက်ချိန်နှင့် ညဥ့်၏အမှောင်ချိန်များကို သက်သေထူပြီး မိန့်ကြားထားတော်မူသည်မှာ ရန်သူများ၏ အတွေးအထင် အယူအဆအားလုံးတို့သည် လုံးဝ မှားသည်။ အဘယ်ကြောင့်ဆိုသော် အလ္လာဟ်အရှင်မြတ်သည် တမန်တော်မြတ်အား စွန့်ပစ်ထားသည်လည်း မဟုတ်၊ မုန်းတီးတော်မူသည်လည်း မဟုတ်။ အမှန်မှာ အလ္လာဟ်အရှင်မြတ်သည် ရုပ်လောက၌ မိမိ၏ဉာဏ်တော်၊ တန်ခိုးတော်များ၏ သက်သေ လက္ခဏာတော်များကို အမျိုးမျိုးအဖုံဖုံ ပြတော်မူ၏။ နေ့၏နောက်တွင်ညဥ့်၊ ညဥ့်၏နောက်တွင် နေ့ကို ဖြစ်ပေါ်စေတော်မူ၏။

ထို့အတူ နာမ်လောက၌လည်း သက်သေလက္ခဏာတော်များ အမျိုးမျိုးအဖုံဖုံ ပြထားတော်မူသည်။ နေ့၏အလင်းရောင်နောက်တွင် ညဥ့်၏အမှောင် ရောက်လာခြင်းသည် အလ္လာဟ်အရှင်မြတ် နှစ်သက်တော်မူခြင်း၏ လက္ခဏာလည်းမဟုတ်။ ညဥ့်၏အမှောင်နောက်တွင် နေ့၏အလင်းရောင်ခြည်သည် ဘယ်သောအခါမျှ ထွက်ပေါ်လာတော့မည်မဟုတ် ဟူ၍လည်းမဟုတ်။

သို့ဖြစ်လျှင် ရက်အနည်းငယ် ဝဟီ ရပ်တန့်နေသည်ကိုကြည့်ပြီး အလ္လာဟ်အရှင်မြတ်သည် တမန်တော်မြတ်အား မုန်းတီးတော်မူပြီ၊ စွန့်ပစ်ထားတော်မူပြီ၊ ဝဟီကို လုံးဝပိတ်ပင် ရပ်ဆိုင်းထားတော်မူပြီ ဟူ၍ကား အသို့လျှင် ယူဆနိုင်အံ့နည်း။ ယင်းသို့ ထင်မြင်ယူဆလိုက်ခြင်းသည် တစ်နည်းအားဖြင့် အလ္လာဟ် အရှင်မြတ်၏ ဉာဏ်တော်နှင့် တန်ခိုးတော်အပေါ်၌ စောဒနာ တက်ရာရောက်သည်။

အလ္လာဟ်အရှင်မြတ်သည် မိမိတမန်တော်အဖြစ် ချီးမြှင့်ထားတော်မူသော ပုဂ္ဂိုလ်မှာ နောင်တစ်ချိန်တွင် တမန်တော်ဂုဏ်နှင့် မထိုက်တန်သည်ကို သိတော်မမူဟူ၍ ပြောဆိုစွပ်စွဲရာ ရောက်နေပေသည်။ ဤသို့ကား အလျှင်းမတွေးအပ်၊ မပြောအပ်။

(၁) ဆိုလိုသည်ကား တမန်တော်မြတ်၏ ဖြစ်ပေါ်လတ္တံ့သော အခြေအနေသည် ဖြစ်ပေါ်ပြီးသော အခြေအနေထက်၊ တမန်တော်မြတ်၏ အနာဂတ်သည် အတိတ်ထက် အလွန်သာပို ကောင်းမြတ်လှပေသည်။ ယခုကဲ့သို့ ခေတ္တ 'ဝဟီ' ရပ်တန့်နေခြင်းသည် တမန်တော်မြတ်၏ နိမ့်ကျခြင်း၏ အကြောင်းမဟုတ်၊ အတိုင်းမသိ တိုးတက် ကြီးပွားရန် အကြောင်းသာလျှင် ဖြစ်ပေသည်။ 

وَلَسَوۡفَ يُعۡطِيكَ رَبُّكَ فَتَرۡضَىٰٓ ⑤

၅။ ငှင်းပြင် မကြာမြင့်မီ အသင့်အား ဖန်ဆင်း မွေးမြူတော်မူသောအရှင်မြတ်သည် အသင် နှစ်သိမ့် ကျေနပ်လောက်အောင် အမှန်ပင် ချီးမြှင့်ပေးသနား တော်မူပေမည်။ [၁]

أَلَمۡ يَجِدۡكَ يَتِيمٗا فَـَٔاوَىٰ ⑥

၆။ ထိုအရှင်မြတ်သည် အသင့်အား မိဘမဲ့အဖြစ် တွေ့ရှိတော်မူခဲ့၍ ခိုကိုးရာပေးတော်မူခဲ့သည် မဟုတ် လော။ [၂]

---

➤➤ ငှင်းပြင် အကယ်၍ ဖြစ်ပေါ်လတ္တံ့သော အခြေအနေကို ဖြစ်ပေါ်လတ္တံ့သော အခြေအနေ၏နောက်တွင် ဖြစ်ပေါ်လတ္တံ့သော အခြေအနေ (ဝါ) နောင်တမလွန်ဘဝဟူ၍ ယူဆသော် နောင်တမလွန်ဘဝတွင် တမန်တော်မြတ်၏ အခြေအနေကား အံ့မဆုံးပင်။ ထိုဘဝတွင် ဖခင်ကြီးအာဒမ်နှင့် ဖခင်ကြီးအာဒမ်၏ သားသမီးအပေါင်းတို့သည် တမန်တော်မြတ်၏ အလံတော်အောက်တွင် စုရုံးကြရပေမည်။ ထိုဘဝတွင် တမန်တော်မြတ်၏ ဂုဏ်အင်ဒြပ်သည် ဤပစ္စက္ခတွင် ချီးမြှင့်တော်မူခြင်းခံရသော ဂုဏ်အင်ဒြပ်များထက် အတိုင်းမသိ အသချေ်အသချ်ာ သာပိုကြီးကဲ မြင့်မြတ်လှပေမည်သာတည်း။

(၁) **တမန်တော်မြတ်အား ကျေနပ်တော်မူသည့်အထိ ချီးမြှင့်တော်မူရန် ကောင်းချီးသတင်း။**

အလ္လာဟ်အရှင်မြတ်သည် တမန်တော်မြတ်အား မုန်းတီးတော်မူရန်၊ စွန့်ပစ်ထားတော်မူရန် ဝေးစွ၊ အလ္လာဟ်အရှင်မြတ်သည် တမန်တော်မြတ်အား ဤပစ္စက္ခဘဝတွင်လည်းကောင်း၊ နောင်တမလွန်ဘဝတွင် လည်းကောင်း တမန်တော်မြတ် စိတ်တိုင်းကျဖြစ်၍ လုံးဝကျေနပ်နှစ်သက်၊ အားရတော်မူသည့်အထိ သုခချမ်းသာ အဖြာဖြာကို ချီးမြှင့်တော်မူမည်သာတည်း။

(၂) အလ္လာဟ်အရှင်မြတ်သည် တမန်တော်မြတ်အား နောင်တမလွန်ဘဝတွင် အတိုင်းမသိ ကြီးကဲမြင့်မြတ်သော ဂုဏ်အင်ဒြပ်များကို မုချဧကန် အမှန် ချီးမြှင့်တော်မူမည်ဖြစ်သည်။ ဤကား အဆန်းမဟုတ်၊ ထိုအရှင်မြတ်သည် တမန်တော်မြတ်အား ဤပစ္စက္ခဘဝတွင်လည်း မြောက်မြားစွာသော ကျေးဇူးတော်များကို အံ့ဖွယ်သရဲ ချီးမြှင့်ထားတော်မူခဲ့သည် မဟုတ်ပါလော။ တမန်တော်မြတ်အား အံ့ဖွယ်မဆုံး ထိန်းသိမ်းစောင့်ရှောက်တော် မူခဲ့သည် မဟုတ်ပါလော။

တမန်တော်မြတ် မီးရှူးသန့်စင် မဖွားမြင်မီပင် တမန်တော်မြတ်၏ဖခင်ကြီးသည် ကွယ်လွန်သေဆုံး သွားခဲ့ရှာလေသည်။ တမန်တော်မြတ် (၆)နှစ်အရွယ်တွင် တဖန် မိခင်ကြီး ကွယ်လွန် သေဆုံးသွားခဲ့ရှာလေသည်။ ဤသို့ဖြင့် တမန်တော်မြတ်သည် မိတဆိုး၊ ဖတဆိုးဘဝသို့ ရောက်သွားရှာတော်မူခဲ့ရလေသည်။

မိဘနှစ်ပါး ကွယ်လွန် သေဆုံးကြပြီးနောက် တမန်တော်မြတ်အား (၈)နှစ်အရွယ်အထိ ဘိုးတော် အဗ်ဒုလ်မုတ္တလိဗ်က ထိန်းသိမ်းစောင့်ရှောက်ခဲ့လေသည်။

ဘိုးတော် ကွယ်လွန်ပြီးနောက် တမန်တော်မြတ်အား ဦးရီးတော် အဗူတွာလိဗ်က အသက်ထက်ဆုံး ကိုယ်စွမ်းရှိသမျှ ဉာဏ်စွမ်းရှိသမျှ လိုလေသေးသည်မရှိ ထိန်းသိမ်းစောင့်ရှောက် သွားခဲ့လေသည်။

တမန်တော်မြတ် မက္ကာမြို့တော်မှ မဒီနာမြို့တော်သို့ (ဟိဂျ်ရတ်) ရွှေ့ပြောင်းသွားတော်မမူမီ ➤➤

وَوَجَدَكَ ضَآلًّا فَهَدٰى ۝٧

၇။ ၎င်းပြင် ထိုအရှင်မြတ်သည် အသင့်အား လမ်းမပေါက်သူအဖြစ် တွေ့ရှိတော်မူခဲ့ရာ လမ်းညွှန်တော်မူခဲ့၏။ [၁]

وَوَجَدَكَ عَآئِلًا فَأَغْنٰى ۝٨

၈။ ထိုမှတပါး ထိုအရှင်မြတ်သည် အသင့်အား ပစ္စည်းမဲ့အဖြစ်တွေ့ရှိတော်မူခဲ့ရာ ဥစ္စာပစ္စည်းကြွယ်ဝစေတော်မူခဲ့၏။ [၂]

---

➤➤ အချိန်ပိုင်းအတွင်း ဦးရီးတော်သည်လည်း ကွယ်လွန်သေဆုံး၍ သွားခဲ့ရှာလေသည်။ ထို့နောက် တမန်တော်မြတ် မဒီနာမြို့တော်သို့ ကြွရောက်သွားတော်မူသည့်အခါ အောက်စ်နှင့် ခဇ်ရဂျ်မျိုးနွယ်များက တမန်တော်မြတ်အား မိုးအောက်မြေပြင် ကမ္ဘာဇာတ်ခုံပေါ်တွင် စံမတူအောင် ကာကွယ်ထိန်းသိမ်းကူညီ စောင့်ရှောက်ခဲ့ကြလေသည်။ သို့ဖြစ်ပေရာ ထိုးမျိုးနွယ်များသည် ယနေ့တိုင်အောင် "အာန်ဆွာရ်" ဟူ၍ ကျော်ကြားလျက် ရှိကြပေသည်။

ဤသို့ဖြင့် တမန်တော်မြတ်သည် မိဘဆိုး ဖတဆိုး ဘဝမှ ကမ္ဘာ့ မီးရှူးတန်ဆောင်အဖြစ်သို့ အံ့ဖွယ်သရဲ ရောက်ရှိလာတော်မူခဲ့လေသည်။ ဤသည်တို့သည် ဤအာယတ်တော်တွင် လာရှိသည်နှင့်အညီ အလ္လာဟ်အရှင်မြတ်၏ ထိန်းသိမ်းစောင့်ရှောက်မှုတွင် အဆင့်ဆင့် အကျုံးဝင်လျက် ရှိပေသည်။ ဤသည်လည်း ဤပစ္စက္ခဘဝတွင် တမန်တော်မြတ်အား အလ္လာဟ်အရှင်မြတ် ချီးမြှင့်တော်မူခဲ့သော အတိုင်းမသိ ကြီးမားလှသော ကျေးဇူးတော်တစ်ရပ်ပင်။ ကြည့်-အိဗ်နုကဆီရ်။

(၁) တမန်တော်မြတ်သည် (တမန်တော်မြတ်ဂုဏ်ထူးဖြင့် ချီးမြှင့်တော်မူခြင်း မခံရသေးမီအလျင်) အရွယ်ရောက်၍ အမျိုးသားတို့၏ ရှိရ်က်အမှု၊ကုဖ်ရ်အမှုနှင့် အချည်းနှီးသော ထုံးထမ်းစဉ်လာများကို တွေ့မြင်ရသောအခါ လွန်စွာမုန်းတီးတော်မူ၏။ စက်ဆုပ်ရွံရှာတော်မူ၏။ စိတ်နှလုံးတွင် တစ်ဆူတည်းသော အလ္လာဟ်အရှင်မြတ်အား သာလျှင် ချစ်ကြည်မြတ်နိုးလိုသော အာသာနှင့် ခဝပ်ကိုးကွယ်လိုသော ဆန္ဒ ပြင်းပြလျက်ရှိတော်မူ၏။ ထိုအရှင်မြတ်ထံတော်သို့ ပေါက်ရောက်ကြောင်း တရားကိုသာ ရှာဖွေဆည်းပူးလျက် ရှိတော်မူ၏။ ဝေနေယျ သတ္တဝါအပေါင်းတို့အား တရားဟောညွှန်ပြရန် ဆန္ဒပြင်းပြလျက် ရှိတော်မူ၏။

သို့ရာတွင် ပွင့်လင်းထင်ရှားသော၊ ပြည့်ဝစုံလင်သော တရားနှင့် ကျင့်စဉ်ကျင့်ရပ်များကား မပွင့်လင်းသေးချေ။ ထို့အတွက် တမန်တော်မြတ်သည် အားမလိုအားမရ ဖြစ်နေတော်မူခဲ့၏။ စိတ်စောလျက် ရှိတော်မူခဲ့၏။ လိုဏ်ဂူများ၊ တော၊ တောင်များသို့သွား၍ မိမိ၏အရှင်သခင်အား တမ်းတနေတော်မူခဲ့၏။ ပန်ကြားနေတော်မူခဲ့၏။

နောက်ဆုံးတွင် တမန်တော်မြတ် "ဟိရာ" လိုဏ်ဂူ၌ တရားဆည်းပူးနေတော်မူစဉ် အလ္လာဟ်အရှင်မြတ်သည် ကောင်းကင်တမန် ဂျိဗ်ရီလ်အား စေလွှတ်တော်မူ၍ အစ္စလာမ်၏ အမှန်တရားကို စတင်ချီးမြှင့်တော်မူလိုက်လေသည်။ ကြည့်-ကုရ်အာန် (၄၂:၅၂)။

ဤသည်လည်း ဤပစ္စက္ခတွင် တမန်တော်မြတ်အား အလ္လာဟ်အရှင်မြတ် ချီးမြှင့်တော်မူခဲ့သော အတိုင်းမသိ ကြီးမားလှသည့် ကျေးဇူးတော်တစ်ရပ်ပင်။

فَاَمَّا الْيَتِيْمَ فَلَا تَقْهَرْ ۝٩

၉။ သို့ဖြစ်ပေရာ မည်သို့ပင်ဖြစ်စေကာမူ အသင်သည် မိဘမဲ့ကလေးသူငယ်အား ဖိနှိပ်(ကြိမ်းမောင်း)ခြင်းကို မပြုပါလေနှင့်။ [၁]

وَاَمَّا السَّآئِلَ فَلَا تَنْهَرْ ۝١٠

၁၀။ ထိုနည်းတူစွာ မည်သို့ပင်ဖြစ်စေကာမူ အသင်သည် သူတောင်းစားအား ငေါက်ငမ်း၊ နှင်ထုတ်ခြင်းကို မပြုပါလေနှင့်။ [၂]

وَاَمَّا بِنِعْمَةِ رَبِّكَ فَحَدِّثْ ۝١١

၁၁။ ထိုမှတပါး မည်သို့ပင်ဖြစ်စေကာမူ အသင်သည် မိမိအား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၏ ကျေးဇူးတော်ကို ထုတ်ဖော်ပြောကြား၍နေပါလေ။ [၃]

---

(၂) တမန်တော်မြတ်သည် မိဘများထံမှ မယ်မယ်ရရ အမွေပစ္စည်းလည်း ရရှိတော်မမူခဲ့ပေ။ ပစ္စည်းမဲ့ပင် ဖြစ်တော်မူခဲ့၏။ ယင်းသည့် အခြေအနေတွင် တမန်တော်မြတ်သည် ခဒီဂျဟ်သခင်မ၏ ကုန်ပစ္စည်းများ ကူးသန်း ရောင်းဝယ်ပေးခဲ့ရာ အမြတ်အစွန်းများစွာ ရရှိတော်မူခဲ့၏။ ထို့နောက် ခဒီဂျဟ်သခင်မသည် တမန်တော်မြတ်နှင့် ထိမ်းမြားပြီး မိမိပိုင်ပစ္စည်းအားလုံးတို့ကို တမန်တော်မြတ်အား ပုံအပ်ခဲ့လေသည်။ ဤသို့ဖြင့် တမန်တော်မြတ်သည် ပစ္စည်းမဲ့ဘဝမှ စားဝတ်နေရေး ချောင်လည်သည့်ဘဝသို့ ရောက်ရှိလာတော်မူခဲ့ပေသည်။ ဤသည် ရုပ်၏ ချမ်းသာကြွယ်ဝမှုပင်။

ချမ်းသာကြွယ်ဝမှုသည် နှစ်မျိုးရှိ၏။ (၁) ဥစ္စာပစ္စည်း၏ ချမ်းသာကြွယ်ဝမှု။ (၂) စိတ်၏ ချမ်းသာကြွယ်ဝမှု။ ဤ ချမ်းသာကြွယ်ဝမှု နှစ်ရပ်တွင် စိတ်၏ချမ်းသာကြွယ်ဝမှုသည် အဓိကပင်ဖြစ်၏။ တမန်တော်မြတ်၏ စိတ်၊ နာမ်၏ ချမ်းသာကြွယ်ဝမှုကား အတိုင်းမသိ ကြီးမားဘိ၏။

(၁) တမန်တော်မြတ်သည် မိမိကိုယ်တော်တိုင် မိတဆိုး၊ ဖတဆိုး ဖြစ်တော်မူခဲ့ရ၏။အလ္လာဟ်အရှင်မြတ်သည် တမန်တော်မြတ်အား မိတဆိုး၊ ဖတဆိုးဘဝမှပင် နှစ်ဘဝ၏ အထွတ်အထိပ်သို့ ရောက်ရှိအောင် အံ့ချီးမဆုံး ထိန်းသိမ်းစောင့်ရှောက်ပြုစု ပျိုးထောင်ပေးတော်မူခဲ့၏။ ထို့အတွက်ကြောင့် အလ္လာဟ်အရှင်မြတ်က တမန်တော်မြတ်အား မိမိနှင့်ဘဝတူ မိတဆိုး ဖတဆိုးတို့အား ကိုယ်ချင်းစာနာကာ၊ ထောက်ထားသနားကြင်နာရန်၊ ကာကွယ် ထိန်းသိမ်းရန်၊ ကူညီထောက်ပံ့ရန် မေ့မှား၍မျှ မဖိနှိပ်ရန်၊ မကြိမ်းမောင်းမိရန် မိန့်ကြားထားတော်မူပေသည်။

(၂) တမန်တော်မြတ်သည် မိမိကိုယ်တော်တိုင် ဆင်းရဲနွမ်းပါးတော်မူခဲ့သည်။ ထို့နောက် အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်ဖြင့် ဥစ္စာပစ္စည်းလည်း ကြွယ်ဝလာတော်မူခဲ့ပေသည်။ စိတ်ဓာတ်လည်း ချမ်းသာရောင့်ရဲ တင်းတိမ်လာတော်မူခဲ့ပေသည်။

ထို့အတွက် အလ္လာဟ်အရှင်မြတ်က တမန်တော်မြတ်အား မိမိနှင့်ဘဝတူဖြစ်သော ဆင်းရဲနွမ်းပါးသူများ စားဝတ်နေရေး အဆင်မပြေသူများ၊ တောင်းရမ်းစားသောက် နေကြရရှာသော သူဆင်းရဲတို့ကို ကိုယ်ချင်းစာကာ ထောက်ထားသနားကြင်နာရန်၊ ကူညီပံ့ပိုးပေးရန်နှင့် မရှိဆင်းရဲလွန်း၍ နားပူသံကျပ် တောင်းဆိုကြသည့် သူဆင်းရဲများအား မေ့မှား၍မျှ မကြိမ်းမောင်းမိရန်၊ မငေါက်ငမ်းမိရန် သတိပေးထားတော်မူသည်။

# အသိဉာဏ်ပွင့်ခြင်းကဏ္ဍ



ဤကဏ္ဍသည် 'အင်န်ရှိရာဟ်' အသိဉာဏ်ပွင့်ခြင်း ကဏ္ဍမည်၏။ မက္ကာမြို့တော်၌ ကျရောက်ခဲ့၏။ ဤကဏ္ဍတွင် အာယတ်တော် (၈)ပါး ပါရှိ၏။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ

မပြတ်မစဲ သနားကြင်နာ ညှာတာတော်မူသော၊ မဟာကရုဏာတော်ရှင်ဖြစ်တော်မူသော အလ္လာဟ်အရှင်မြတ်၏နာမံတော်ဖြင့် အစပြုပါ၏။

اَلَمْ نَشْرَحْ لَكَ صَدْرَكَ ①

၁။ (အို-နဗီတမန်တော်) ငါ အရှင်မြတ်သည် အသင်၏ရင်ကို ဖွင့်ပေးတော်မူခဲ့သည်မဟုတ်လော၊ [၁]

---

(၃) ကျေးဇူးရှင်၏ ကျေးဇူးများကို ကြွားဝါလိုသည့် သဘောနှင့်မဟုတ်ဘဲ၊ ကျေးဇူးစောင့်သိရှိသေအပ်သော စေတနာအရင်းခံဖြင့် ထုတ်ဖော်ပြောဆိုခြင်းမှာ တရားတော်အရ ပြုပိုင်ပြုအပ်သော ကိစ္စမွန် ကိစ္စမြတ်တစ်ရပ်ပင် ဖြစ်ပေသည်။

အလ္လာဟ်အရှင်မြတ်သည် တမန်တော်မြတ်အား အံ့ချီးမဆုံးသော ကျေးဇူးတော်များ ပြုထားတော်မူသည်မှာ အထင်အရှားပင်။ ထို့အတွက် အလ္လာဟ်အရှင်မြတ်က တမန်တော်မြတ်အား ယင်းသည့်ကျေးဇူးတော်များကို အထူးသဖြင့် တရားတည်းဟူသောကျေးဇူးတော်ကို ဖွင့်ဟထုတ်ဖော် မြွက်ကြားရန် မိန့်ကြားထားတော်မူခြင်းပင် ဖြစ်သည်။ သို့ မိန့်ကြားထားတော်မူသည့်အတိုင်းပင် တမန်တော်မြတ်သည်လည်း အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်များကို အထူးသဖြင့် တရားတည်းဟူသော ကျေးဇူးတော်ကို ကိုယ်စွမ်းရှိသမျှ၊ ဉာဏ်စွမ်းရှိသမျှ အသက်ထက်ဆုံး၊ အကောင်းဆုံး၊ အံ့ချီးမဆုံး စံမတူအောင် ဖွင့်ဟထုတ်ဖော် ပြသဟောကြားသွားတော်မူခဲ့ပေသည်။

(၁) "ရှရ်ဟ်" ဟူသောပုဒ်၏ မူရင်းအနက်မှာ အသားစသည်များကို ပြန့်အောင် ဖြန့်ခြင်းဟူ၍ဖြစ်သည်။ ထိုမှတစ်ဆင့် ယင်းပုဒ်ကို ရင်နှင့်တွဲ၍ "ရှရ်ဟုဆွဲဆွဒ်ရ်" ရင်ဖြန့်ခြင်း (ဝါ) အလ္လာဟ်အရှင်မြတ်၏ တရားရောင်ခြည်။ ထိုအရှင်မြတ်ထံတော်မှ တည်ငြိမ်မှု၊ အေးချမ်းသာယာမှုတို့ဖြင့် ရင်ကို ကျယ်ဝန်းပွင့်လင်းစေခြင်း အနက်၌ အသုံးအနှုန်း ဖြစ်လာခဲ့ချေသည်။ ကုရ်အာန်ကျမ်းမြတ် (၆း၁၂၆။ ၂၀း၂၅။ ၃၉း၂၂။ ၉၄း၁) တွင်လည်း ဤသည့် အနက်၌ပင် သုံးနှုန်းထားတော်မူသည်။ ကြည့်-ရာယိဗ်။

ဆိုလိုသည်ကား အလ္လာဟ်အရှင်မြတ်သည် တမန်တော်မြတ်အား သိသင့်သိအပ်သည့် အသိပညာ အရပ်ရပ်ကို ပွင့်လင်းစေတော်မူသည်။ တမန်တော်အဖြစ် တာဝန်များ ထမ်းဆောင်ရာတွင် ရန်သူများ၏ ဘေးရန်များကို ခံနိုင်ရည်ရှိရန်နှင့် ယင်းသည့်ဘေးရန်များကို ကျော်လွှန်နိုင်ရန်အလို့ငှာ အတိုင်းမသိ ကြီးမားလှသော ဇွဲ၊ သတ္တိနှင့် ခံနိုင်ရည်များကိုလည်း ချီးမြှင့်ထားတော်မူသည်။

**မှတ်ချက်။**

'ဟဒီးဆ်' ဩဝါဒတော်ဆိုင်ရာ ကျမ်းကြီးများနှင့် 'စီရတ်' တမန်တော်မြတ်၏အတ္ထုပ္ပတ္တိဆိုင်ရာ ➤➤

وَوَضَعۡنَا عَنكَ وِزۡرَكَ ②

၂။ ၎င်းပြင် ငါအရှင်မြတ်သည် အသင်၏အပေါ်မှ အသင်၏ဝန်ထုပ်ကို ချပေးတော်မူခဲ့သည် (မဟုတ်လော)။ [၁]

ٱلَّذِيٓ أَنقَضَ ظَهۡرَكَ ③

၃။ ထိုဝန်ထုပ်သည် အသင်၏ကျောကို ကိုင်းညွတ်စေခဲ့၏။ (ချိုးထားခဲ့၏)။

وَرَفَعۡنَا لَكَ ذِكۡرَكَ ④

၄။ ထိုမှတပါး ငါအရှင်မြတ်သည် အသင်၏ဂုဏ်သတင်းကို ကျော်ကြားစေတော်မူခဲ့သည် (မဟုတ်လော)။ [၂]

---

➢➢ ကျမ်းကြီးများတွင် ကောင်းကင်တမန်များက တမန်တော်မြတ်၏ရင်ကို အကြိမ်ကြိမ် ခွဲသည့်အကြောင်း ပါရှိသည်။ သို့ရာတွင် ဤအာယတ်တော်သည် ယင်းသည့်အကြောင်းကို ရည်ညွှန်းဟန်မတူပေ။

① ဤအာယတ်တော်ကို မုဖတ်စ်စီရ်များသည် အောက်ပါအတိုင်း အမျိုးမျိုးအနက် ဖွင့်ကြပေသည်။

(က) ဝဟီ ကျရောက်ခြင်းသည် တမန်တော်မြတ်အဖို့ အစပထမသော် မလွယ်ကူပေ။ အလွန်တရာမျှ ခဲယဉ်းခဲ့ပေသည်။ ထို့နောက်သော် အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်ဖြင့် လွယ်ကူသွားခဲ့ပေသည်။

(ခ) တမန်တော်မြတ်သည် တမန်တော်အဖြစ် ထမ်းဆောင်ရမည့် ကြီးလေးလှသော တာဝန်များကို တွေး၍တွေး၍ အလွန်စိတ်လေးတော်မူခဲ့ပေသည်။ ထို့နောက်သော် အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်ဖြင့် လွယ်ကူသွားခဲ့ပေသည်။

(ဂ) ဤအာယတ်တော်တွင် ပါရှိသည့် 'ဝိဇ်ရ်' ဝန်ထုပ်ဟူသည် အကြင်သို့သော တားမြစ်ချက် မရှိသော ပြုပိုင်သော ကိစ္စရပ်များကို ဆိုလိုသည်။ ထိုသည့် ကိစ္စရပ်များကို တမန်တော်မြတ်သည် မိမိအမြင်နှင့် လျော်ကန်သင့်မြတ်သည်ဟု ထင်မြင်ယူဆကာ ကျင့်သုံးတော်မူလေ့ရှိခဲ့ပေသည်။ ထိုသည့်နောက်ပိုင်းတွင် ယင်းသည့် ကိစ္စရပ်များကို မကျင့်သုံးဘဲနေခြင်းက လျော်ကန်သင့်မြတ်သည်ကို သိမြင်လာတော်မူခဲ့လေသည်။ ထိုအခါ တမန်တော်မြတ်သည် မိမိ၏ တာဝန်နှင့် မိမိ၏ အဆင့်အတန်းကို ကြည့်ပြီး ပြစ်မှုတစ်ခု ကျူးလွန်မိပြီး ကြေကွဲဝမ်းနည်းသကဲ့သို့ ဝမ်းနည်းတော်မူလေ့ရှိခဲ့ပေသည်။ ထို့အတွက် ဤအာယတ်တော်တွင် ယင်းသို့သော ကိစ္စများနှင့်စပ်လျဉ်း၍ တမန်တော်မြတ်အား တစ်စုံတစ်ရာ အရေးယူတော်မူမည် မဟုတ်ကြောင်း ကောင်းချီးသတင်းပေးတော်မူခြင်း ဖြစ်သည်ဟူ၏။

② အလ္လာဟ်အရှင်မြတ်သည် တမန်တော်မြတ်၏ ဂုဏ်သတင်းကို တမန်တော်များ၏ လောကတွင်လည်းကောင်း၊ ကောင်းကင်တမန်များ၏ လောကတွင်လည်းကောင်း၊ စကြာဝဠာအဝန်းတွင်လည်းကောင်း၊ ပျံ့နှံ့ကျော်ကြားစေတော်မူသည်။ စကြာဝဠာအတွင်းရှိ အသိဉာဏ်၊ အမြော်အမြင် အတွေးအခေါ် ရှိသူတိုင်းသည် တမန်တော်မြတ်၏အမည်နာမကို အလွန်ရိုသေ လေးစားစွာဖြင့် ဂုဏ်ယူပြောကြားလျက် ရှိကြပေသည်။

အဇာန်၊ အဲကာမတ်၊ ခုတ္တဗတ်၊ ကလိမဟ်တွိုင်ယိဗဟ်၊ အတ္တဟိယာတ် စသည်တို့တွင်လည်း အလ္လာဟ်အရှင်မြတ်၏ နာမ်တော်၏နောက်၌ တမန်တော်မြတ်၏ အမည်နာမကို ဒွန်တွဲရွတ်ဆိုကြရပေသည်၊➢➢

فَإِنَّ مَعَ الْعُسْرِ يُسْرًا ۝٥

၅။ သို့ဖြစ်ပေရာ ကေန်မလွဲ ခက်ခဲမှုနှင့်အတူ လွယ်ကူမှုသည် (ဒွန်တွဲလျက်ပင်) ရှိ၏။

إِنَّ مَعَ الْعُسْرِ يُسْرًا ۝٦

၆။ ခက်ခဲမှုနှင့်အတူ လွယ်ကူမှုသည် ကေန်အမှန် (ဒွန်တွဲလျက်ပင်) ရှိ၏။ [၁]

فَإِذَا فَرَغْتَ فَانْصَبْ ۝٧

၇။ သို့ဖြစ်ပေရာ အသင်သည် အားလပ်သော အခါ (ဝတ်ပြုမှု၌) ကြိုးပမ်းအားထုတ်ပါလေ။

وَإِلَىٰ رَبِّكَ فَارْغَبْ ۝٨

၈။ ၎င်းပြင် မိမိအား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်ဖက်သို့ (တစ်စိတ်တစ်လက်တည်း အာရုံ) လှည့်ထားပါလေ။ [၂]

---

➤➤ ထို့ပြင်တစ်ဝ၊ အလ္လာဟ်အရှင်မြတ်က လူသားတို့အား မိမိ၏အမိန့်တော်များကို နာခံရန် အမိန့်ပေးတော်မူသည့် နေရာတိုင်းတွင် တမန်တော်မြတ်၏ လမ်းစဉ်ကို လိုက်နာကျင့်သုံးရန်လည်း တစ်ဆက်တည်း ညွှန်ကြားထားတော်မူပေသည်။

တမန်တော်မြတ်အား ကြည်ညိုမြတ်နိုးသူများကသာ တမန်တော်မြတ်အား ချီးမွမ်းထောပနာပြုကြသည်မဟုတ်၊ တမန်တော်မြတ်အား ရန်ပြုသူများသည်ပင်လျှင် တမန်တော်မြတ်အား မချီးမွမ်းဘဲ မနေနိုင်ကြပေ။

(၁) ကျပ်တည်းမှုနှင့် ချောင်လည်မှု၊ ခဲယဉ်းမှုနှင့် လွယ်ကူမှု၊ ဒုက္ခနှင့်သုခ စသည်တို့သည် ဒွန်တွဲလျက်ရှိ၏။ တမန်တော်မြတ်သည် အလ္လာဟ်အရှင်မြတ်၏လမ်းတော်၌ ဆင်းရဲမှု ဒုက္ခအမျိုးမျိုးကို ခံစားတော်မူခဲ့၏။ ထိုသည့်နောက်တွင် ယင်းသည့် ဆင်းရဲမှုဒုက္ခများနှင့်အတူ မြောက်မြားစွာသော ချောင်လည်မှု၊ လွယ်ကူမှု၊ သုခချမ်းသာ အဖြာဖြာတို့သည်လည်း တစ်ဆက်တည်း ဖြစ်ပေါ်လာခဲ့ပေသည်။ ဥပမာ-အလ္လာဟ်အရှင်မြတ်သည် တမန်တော်မြတ်၌ အံ့ချီးမဆုံးသော ကြံရည်ဖန်ရည် လုပ်ရည်ကိုင်ရည် ဖွဲ့သတ္တိနှင့် ခံနိုင်ရည်များကို ထည့်သွင်းပေးတော်မူခဲ့ရာ တမန်တော်မြတ်အဖို့ ဆင်းရဲဒုက္ခများကို ရင်ဆိုင်ရန်မှာ လွယ်ကူသွားခဲ့ပေသည်။ ဒုက္ခများ၏ နောက်တွင် သုခများ ပေါ်ပေါက်လာခဲ့ပေသည်။

ဤအာယတ်တော်၏ အခြားအဖွင့်တစ်ရပ်မှာ အလ္လာဟ်အရှင်မြတ်သည် တမန်တော်မြတ်အား (ရှုဟာနီ ရာဟတ်) နာမ်ဆိုင်ရာ သုခကို ချီးမြှင့်တော်မူ၍၊ (ရှုဟာနီ ကုလ်ဖတ်) နာမ်ဆိုင်ရာ ဒုက္ခကို တမန်တော်မြတ်မှ ကင်းဝေးစေတော်မူခဲ့သည်ဟူ၏။ ဆိုလိုသည်ကား အလ္လာဟ်အရှင်မြတ်သည် တမန်တော်မြတ်အား ယင်းသို့ နာမ်ဆိုင်ရာ သုခကို ချီးမြှင့်ထားတော်မူသည်ဖြစ်ရာ လောကီဆိုင်ရာ သုခကို အသို့လျှင် ချီးမြှင့်တော်မမူဘဲ ရှိတော်မူအံ့နည်း။ ထိုအရှင်မြတ်သည် တမန်တော်မြတ်အား လောကီဆိုင်ရာ သုခများကိုလည်း အမှန်မုချ ချီးမြှင့်တော်မူမည်သာတည်း။ တမန်တော်မြတ် ခံစားနေရသော ဆင်းရဲဒုက္ခများ၏ နောက်ပိုင်းတွင် သုခချမ်းသာ အဖြာဖြာ ဖြစ်ပေါ်လာမည်သာတည်း။ ဤသည် အလ္လာဟ်အရှင်မြတ်၏ ကတိတော်ပင်။

# သဖန်းပင်ကဏ္ဍ

سُوْرَةُ التِّيْنِ

ဤကဏ္ဍသည် "တီန်" သဖန်းပင် ကဏ္ဍမည်၏။ မက္ကာမြို့တော်၌ ကျရောက်ခဲ့၏။
ဤကဏ္ဍတွင် အာယတ်တော်(၈)ပါး ပါရှိ၏။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ ○

မပြတ်မစဲ သနားကြင်နာ ညှာတာတော်မူသော၊
မဟာကရုဏာတော်ရှင် ဖြစ်တော်မူသော
အလ္လာဟ်အရှင်မြတ်၏နာမံတော်ဖြင့် အစပြုပါ၏။

وَالتِّيْنِ وَالزَّيْتُوْنِ ①

၁။ (ငါအရှင်မြတ်သည်) သဖန်းသီးပင်ကိုလည်းကောင်း၊ သံလွင်သီးပင်ကိုလည်းကောင်း၊ သက်သေထူတော်မူ၏။

وَطُوْرِ سِيْنِيْنَ ②

၂။ ထို့ပြင် (ငါအရှင်မြတ်သည်) သိနတောင်ကို သက်သေထူတော်မူ၏။

وَهٰذَا الْبَلَدِ الْاَمِيْنِ ③

၃။ ထိုမှတပါး (ငါအရှင်မြတ်သည်) ဤဘေးရန်ကင်းသောမြို့တော်ကို သက်သေထူတော်မူ၏။ ၁

---

(၂) အလ္လာဟ်အရှင်မြတ်သည် တမန်တော်မြတ်အား အတိုင်းမသိ ကြီးကဲမြင့်မြတ်သော အမျိုးမျိုးသော ကျေးဇူးတော်များကို ချီးမြှင့်ထားတော်မူပေရာ၊ ဤအာယတ်တော်တွင် တမန်တော်မြတ်သည် လူသားတို့အား (တဗ်လီဃ်) သွန်သင်ဆုံးမ တရားဟောကြား၍ ပြီးစီးသည့်အခါ ဆိတ်ငြိမ်ရာ၌ တစ်ကိုယ်ရည် တစ်ကာယတည်း တရားအားထုတ်မည့်အကြောင်း၊ သို့တရားအားထုတ်ပါက သုခချမ်းသာ အဖြာဖြာကို ပိုမို၍ ချီးမြှင့်တော်မူခြင်း ခံရမည်ဖြစ်ကြောင်း၊ ထို့ပြင် တမန်တော်မြတ်သည် အလ္လာဟ်အရှင်မြတ်အား (အဆက်အသွယ် တစ်စုံတစ်ရာ မထားရှိဘဲ) တိုက်ရိုက်အာရုံပြုရမည့်အကြောင်း မိန့်ဆိုထားတော်မူသည်။

(၁) အလ္လာဟ်အရှင်မြတ်သည် ဤအာယတ်တော်တွင် အလွန်အကျိုးများသော၊အဖိုးထိုက်တန်လှသော အပင်နှစ်ပင်နှင့် အလွန် မြင့်မြတ်သော ဌာနနှစ်ခုကို သက်သေထူပြီး မိန့်ဆိုထားတော်မူသည်။ အဆိုပါ အပင်နှစ်ပင်မှာ သဖန်းပင်နှင့် သံလွင်ပင်ဖြစ်သည်။ အဆိုပါ ဌာနနှစ်ခုမှာ သိနတောင်နှင့် မက္ကာမြို့တော်ဖြစ်သည်။
(တီန်) သဖန်းပင်အကြောင်းကို ကုရ်အာန်ကျမ်းမြတ်တွင် တစ်နေရာ၌သာတွေ့ရှိရသည်။ ကြည့်-ကုရ်အာန်(၉၅း၁)
(ဇိုင်တူန်) သံလွင်ပင်အကြောင်းကို ကုရ်အာန် (၆)နေရာတွင် တွေ့ရှိရသည်။ ကြည့်-ကုရ်အာန် (၆း၁၀၀။ ၆း၁၄၂။ ၁၆း၁၁။ ၂၄း၃၅။ ၈၀း၂၉။ ၉၅း၁)။
(တူရိစီနီန်) သိနတောင်အကြောင်းကို ကုရ်အာန်တွင် အကြိမ်ကြိမ် တွေ့ရှိရသည်။ ကြည့်-ကုရ်အာန် (၂း၆၃။ ၂း၉၃။ ၄း၁၅၄။ ၁၉း၅၂။ ၂၀း၈၀။ ၂၃း၂၀။ ၂၈း၂၉။ ၂၈း၄၆။ ၅၂း၁။ ၉၅း၂)။ 

لَقَدْ خَلَقْنَا الْإِنسَانَ
فِي أَحْسَنِ تَقْوِيمٍ ④

၄။ စကန်မလွဲ ငါ အရှင်မြတ်သည် လူကို အကောင်းဆုံးသော အချိုးအစား အရပ်အမောင်း ပုံပန်းသဏ္ဍာန်၌ ဖန်ဆင်းတော်မူ၏။

ثُمَّ رَدَدْنَاهُ أَسْفَلَ سَافِلِينَ ⑤

၅။ ထို့နောက် ငါအရှင်မြတ်သည် ၎င်းအား ညံ့ဖျင်းသူတို့ထက် အညံ့ဖျင်းဆုံးသော အခြေအနေသို့ ပြန်ရောက်စေတော်မူ၏။

إِلَّا الَّذِينَ آمَنُوا وَعَمِلُوا الصَّالِحَاتِ
فَلَهُمْ أَجْرٌ غَيْرُ مَمْنُونٍ ⑥

၆။ သို့ရာတွင် သက်ဝင် ယုံကြည်ပြီးနောက် ကောင်းမြတ်သော အကျင့်သီလများကို ကျင့်မှုဆောက်တည်ကြကုန်သောသူတို့အဖို့မှာကား မကုန်ဆုံးနိုင်သော အကျိုးကျေးဇူးသည် (အသင့်)ရှိ၏။

---

➤➤ (အလ်ဗလဒုလ်အမီန်) ဘေးရန်ကင်းငြိမ်းသော (မက္ကာမြို့တော်အကြောင်းကို ကုရ်အာန်တွင် အများအပြား တွေ့ရှိရသည်။ ကြည့်-ကုရ်အာန် (၁၄:၃၅။ ၉၀:၁-၂။ ၉၅:၃)။

သဖန်းပင်နှင့် သံလွင်ပင်သည် အလွန်အကျိုး များပြားလှသည့်အတွက် ပြည့်ဝစုံလင်လှသော လူသား၏ ဘဝဖြစ်အင်နှင့် အထူးတူလှပေသည်။ ထို့အတွက်ကြောင့်လည်း လူသားအား ဖန်ဆင်းတော်မူသည့် အကြောင်းကို မိန့်ဆိုထားတော်မူရာတွင် ယင်းသည့်အပင်များကို အထူးတလည် သက်သေထူပြီး စကားပလ္လင် ခံထားတော်မူခြင်းဖြစ်သည်။

"တူရိစီနိန်" ၊ "တူရိစိုင်နာအ်" သည် သိနတောင်ပင်ဖြစ်သည်။ ယင်းတောင်ပေါ်၌ အလ္လာဟ် အရှင်မြတ်သည် တမန်တော်မူစာသခင်နှင့် စကားပြောကြားတော်မူခဲ့ပေသည်။

"အလ်ဗလဒုလ်အမီန်" ဘေးရန်ကင်းငြိမ်းသောမြို့ ဟူသည် မက္ကာမြို့တော်ကိုပင် ဆိုလိုသည်။ ယင်းမြို့တော်၌ တမန်တော်အပေါင်းတို့၏ အချုပ်ဖြစ်တော်မူသော တမန်တော်မြတ် မုဟမ္မဒ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစ္စလမ်) မီးရှူးသန့်စင် ဖွားမြင်တော်မူခဲ့ပေသည်။ ကမ္ဘာတစ်သက် တည်ရှိမည့် ကုရ်အာန်ကျမ်းဂန်သည် လည်း ယင်းမြို့တော်၌ စတင်ကျရောက်လာခဲ့ပေသည်။

ဆိုလိုသည်ကား ဖော်ပြပါ ဌာနများသည် အလွန်မြင့်မြတ်လှသည်။ ယင်းဌာနများတွင် အဓိပတိ အကျော်အမော် တမန်တော်များ ပွင့်ပေါ်ခဲ့ကြပေသည်။ ယင်းသို့သော ဌာနများကို သက်သေထူတော်မူ၍ အလ္လာဟ်အရှင်မြတ်က 'ငါအရှင်မြတ်သည် လူသားအား အလွန်ကောင်းမြတ်သော အချိုးအစား ပုံပန်းသဏ္ဍာန်၌ ဖန်ဆင်းထားတော်မူသည်။ စွမ်းရည်သတ္တိ အမျိုးမျိုး၊ ရုပ်၊ နာမ်၊ အတွင်းအပြင် စွမ်းအင် အစုံအလင်လည်း ချီးမြှင့်ထားတော်မူသည်' ဟု မိန့်ကြား ထားတော်မူသည်။

သို့ဖြစ်ရာ၊ အကယ်၍ လူသားသည် မိမိရရှိထားသော မူလဗီဇ မှန်ကန်သော် သဘာဝနှင့်အညီ ကြိုးစားပါက ကောင်းကင်တမန်များထက် သာနိုင်သည်သာမက ကောင်းကင်တမန်များ၏ ဂုဏ်ပြုခြင်းကိုပင် ခံရပေမည်။ ဤသည်ကို အဆိုပါ ဌာနများသည် သက်သေခံလျက် ရှိကြပေသည်။

فَمَا يُكَذِّبُكَ بَعْدُ بِالدِّينِ ⑦

၇။ သို့ပါလျက် (ဤသည်တို့ကိုသိရှိပြီး)နောက်တွင် အစားပေးခြင်းကို မဟုတ်မမှန်ဟု ငြင်းပယ်ရန် အသင့်အား မည်သည့်အရာက လှုံ့ဆော်သနည်း။

أَلَيْسَ اللَّهُ بِأَحْكَمِ الْحَاكِمِينَ ⑧

၈။ အလ္လာဟ်အရှင်မြတ်သည် တရားစီရင်သူအပေါင်းတို့ထက် အကောင်းဆုံး တရားစီရင်တော်မူသောအရှင်မြတ်ပင်ဖြစ်တော်မူသည်မဟုတ်လော။ [၁]

---

(၁) အလ္လာဟ်အရှင်မြတ်သည် လူသားအား ရုပ်၊ နာမ်၊ အတွင်း၊ အပြင် အားဖြင့် အသင့်တော်ဆုံး အရုပ်အမောင်း၊ အကောင်းဆုံး အချိုးအစား၊ ပုံပန်းသဏ္ဍာန်၊ ရုပ်ဆင်းအင်္ဂါ ကြံအင်လက္ခဏာ၊ အစုံလင်ဆုံး အား၊ အပြည့်ဝဆုံး အရည်အချင်း၊ အထက်မြက်ဆုံး စွမ်းရည်၊ အမြင့်မြတ်ဆုံး အသိဉာဏ်များကို ချီးမြှင့်ထားတော်မူ၏။ လူ့ဘဝ အထွတ်အထိပ်သို့ ရောက်ရှိနိုင်ရန် လိုလေသေးမရှိ စီမံဖန်တီးပေးထားတော်မူ၏။

ထို့နောက် တဖန် ထိုသည့်လူသားအား အနိမ့်ဆုံး အခြေအနေသို့ ပြန်လည်ရောက်ရှိစေတော်မူ၏။ ထိုအခါ လူသားသည် နုပျိုရာမှ အိုမင်းရင့်ရော်လာ၏။ တောင့်တင်း ပြေပြစ် ချောမွေ့သော အသားအရေသည် ရှုံ့တွန့် လျော့ရဲဖြစ်လာ၏။ ဖြောင့်မတ်သော ခါးသည် ကိုင်းညွတ်လာ၏။မည်းနက်သော ဆံပင်များသည် ဖြူဖွေးလာ၏။ ကြည်လင်တောက်ပသော မျက်စိများသည် မှုန်လာ၏။ ကောင်းစွာ ကြားသော နားများသည် ထိုင်းလာ၏။ လျင်မြန်စွာ သွားလာလှုပ်ရှားနေသော ခြေများသည် နှေးကွေး ဆိုင်းတွလာ၏။ ပိုင်နိုင်စွာ ဆုပ်ကိုင်နိုင်သော လက်များသည် တုန်တုန်ယင်ယင် ဖြစ်လာ၏။ သွက်လက်စွာ ပြောနိုင်သော နှုတ်လျှာသည် လေးလာ၏။ အာရုံများသည် ဆုတ်ယုတ် ပျက်ပြားလာ၏။ အသိဉာဏ်၊ အတွေးအခေါ်၊ အမြော်အမြင် အယူအဆ အားလုံးတို့သည် ယိုယွင်း ညံ့ဖျင်းလာ၏။ ထိုင်းမှိုင်းလာ၏။ ဤကား လူ့ဖြစ်စဉ်ပင်။

ကြည့်-ကုရ်အာန် (၃၀:၅၄)။

ဤသည့် လူ့ဘဝဖြစ်စဉ်ကို စဉ်းစားဆင်ခြင်ပါက အလ္လာဟ်အရှင်မြတ်သည် လူသားအား အားအင်ချည့်နဲ့သည့်ဘဝမှ အားအင်ပြည့်ဝသည့် ဘဝသို့လည်းကောင်း၊ တဖန် အားအင်ပြည့်ဝသည့်ဘဝမှ အားအင်ချည့်နဲ့သည့်ဘဝသို့လည်းကောင်း အပြန်အလှန် ပြောင်းလဲ ဖန်ဆင်းတော်မူသော အရှင်သခင် ဖြစ်တော်မူသည်ကို ကောင်းစွာသိရှိနိုင်ပေသည်။

အလ္လာဟ်အရှင်မြတ်သည် ယင်းသို့ အပြန်အလှန် အပြောင်းအလဲ ဖန်ဆင်းတော်မူသော အရှင် ဖြစ်တော်မူသည်ကို သိရှိထားပြီးဖြစ်ရာကား ဤလှုပ်ရှားသွားလာလျက်ရှိသော စကြာဝဠာကြီးသည် တစ်ရက် ရုပ်ဆိုင်း ဆိတ်သုဉ်း၍ 'ကိယာမတ်' ဖြစ်မည်ကို အဘယ်သို့လျှင် ငြင်းပယ်နိုင်အံ့နည်း။ ငြင်းပယ်ရန် အကြောင်း အလျှင်း မရှိပေ။

## (သွေးခဲ)ဖတ်ရွတ်လော့ ကဏ္ဍ

سُورَةُ الْعَلَقِ

ဤကဏ္ဍသည် ("အစ်က်ရာ့") "ဖတ်ရွတ်လော့" ကဏ္ဍမည်၏။ မက္ကာမြို့တော်၌ ကျရောက်ခဲ့၏။ ဤကဏ္ဍတွင် အာယတ်တော် (၁၉)ပါး ပါရှိ၏။ ဤကဏ္ဍသည် (အလတ်က်) "သွေးခဲ" ကဏ္ဍဟူ၍လည်း မည်တွင်၏။

بِسْمِ اللَّهِ الرَّحْمَٰنِ الرَّحِيمِ

မပြတ်မစဲ သနားကြင်နာ ညှာတာတော်မူသော၊ မဟာကရုဏာတော်ရှင် ဖြစ်တော်မူသော အလ္လာဟ်အရှင်မြတ်၏နာမံတော်ဖြင့် အစပြုပါ၏။

اقْرَأْ بِاسْمِ رَبِّكَ الَّذِي خَلَقَ ①

၁။ (အို-နဗီတမန်တော်) အသင်သည် မိမိ အရှင်မြတ်၏နာမံတော်ဖြင့် (အစပြု၍) ဖတ်ပါလေ။ထို အရှင်မြတ်သည် (သက်ရှိသက်မဲ့ အရာခပ်သိမ်းတို့ကို) ဖန်ဆင်းတော်မူခဲ့၏။

خَلَقَ الْإِنسَانَ مِنْ عَلَقٍ ②

၂။ ထိုအရှင်မြတ်သည် လူသားကို သွေးခဲဖြင့် ဖန်ဆင်းတော်မူခဲ့၏။

اقْرَأْ وَرَبُّكَ الْأَكْرَمُ ③

၃။ (အို-နဗီတမန်တော်) အသင်သည် ဖတ်ပါလေ။ စင်စစ် အသင့်အား ဖန်ဆင်းတော်မူသော အရှင်မြတ်သည် အလွန်ရက်ရောစွာ ပေးကမ်း ချီးမြှင့်တော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူ၏။

الَّذِي عَلَّمَ بِالْقَلَمِ ④

၄။ အကြင်အရှင်မြတ်သည် ကလောင်ဖြင့် သင်ကြားပေးတော်မူခဲ့၏။

عَلَّمَ الْإِنسَانَ مَا لَمْ يَعْلَمْ ⑤

၅။ ထိုအရှင်မြတ်သည် လူသားတို့အား ၎င်းတို့ မသိခဲ့သောအရာများကို သင်ကြားပေးတော်မူခဲ့ပေသတည်း။[၁]

---

(၁) **ဦးစွာပထမ ကျရောက်လာခဲ့သော အာယတ်တော်ငါးပါး။**

ကုရ်အာန်ကျမ်းလာ ဤကဏ္ဍ၏ အစပထမ အာယတ်တော်ငါးပါးသည် ကုရ်အာန်ကျမ်းလာ အာယတ်တော်များတွင် အဦးအစ ပထမ ကျရောက်လာခဲ့သော အာယတ်တော်များဖြစ်သည်။ ➢➢

➢➢ တမန်တော်မြတ်သည် သက်တော်(၄၀)သို့ ရောက်သောအခါ တမန်တော်မြတ်၌ ဆိတ်ငြိမ်ရာအရပ်တွင် တစ်ကိုယ်တကာယ တည်းနေ၍ တရားအားထုတ်လိုသည့် စိတ်ဓာတ်ပေါ်လာခဲ့၏။ သို့စိတ်ဓာတ် ပေါ်လာခဲ့သည့် အလျောက် တမန်တော်မြတ်သည် မက္ကာမြို့အနီးရှိ ဟိရာလိုဏ်ဂူတွင် သွားရောက်၍ တစ်ကိုယ်တကာယတည်း တရားအားထုတ်တော်မူခဲ့လေသည်။

ဟိဂျ်ရီသက္ကရာဇ် မတိုင်မီ(၁၃)နှစ်၊ ရမဇာန်လ၊ (ခရစ်သက္ကရာဇ် ၆၁၀၊ ဂျူလိုင်လ)တွင် တည၌သော် ကောင်းကင်တမန် ဂျိဗ်ရီလ်သည် တမန်တော်မြတ်ထံသို့ ရောက်ရှိလာပြီး တမန်တော်မြတ်အား "အစ်ကရအ်" အသင်ဖတ်ပါဟုဆိုရာ တမန်တော်မြတ်က "မာအနဗိကာရိအင်န်" ကျွန်ုပ် ဖတ်တတ်သူ မဟုတ်ပါဟု ဖြေကြားတော်မူ၏။ ကောင်းကင်တမန်သည် တမန်တော်မြတ်အား ညှစ်ဖျစ်၍ အသင်ဖတ်ပါဟု ဆိုပြန်ရာ တမန်တော်မြတ်က ကျွန်ုပ် ဖတ်တတ်သူ မဟုတ်ပါဟူ၍ ဖြေကြားတော်မူ၏။ ဒုတိယတစ်ဖန် ကောင်းကင်တမန်က တမန်တော်မြတ်အား ညှစ်ဖျစ်၍ "အသင်ဖတ်ပါ" ဟု ဆိုပြန်ရာ တမန်တော်မြတ်က ယခင်အတိုင်း "ကျွန်ုပ် ဖတ်တတ်သူ မဟုတ်ပါ" ဟူ၍ပင် ဖြေကြားတော်မူ၏။ တတိယ အကြိမ်တွင် ကောင်းကင်တမန်သည် တမန်တော်မြတ်အား ညှစ်ဖျစ်၍ ကုရ်အာန်ကျမ်းလာ ဤအာယတ်တော် ငါးပါးကို စတင် ဖတ်ကြားပြသ သွားခဲ့လေသည်။ ဤအကြောင်း ဗုခါရီကျမ်းဝဟီအခန်းတွင် အကျယ်တဝင့် ပါရှိသည်။ (မာဂျိဒီ)။

**ဟိရာလိုဏ်ဂူတွင် တရားဆည်းပူးတော်မူခြင်း။**

ကအ်ဗဟ်ကျောင်းတော်နှင့် သုံးမိုင်အကွာတွင် ဟိရာအမည်ရှိသော လိုဏ်ဂူတစ်ခုရှိ၏။ တမန်တော်မြတ်သည် ထိုလိုဏ်ခေါင်းသို့ သွားရောက်၍ "မိုရာကဗဟ်" တရားကို အာရုံပြုတော်မူလေ့ရှိ၏။ စားဖွယ်သောက်ဖွယ်များကို ယူဆောင်၍ သွားလေ့ရှိ၏။ စားဖွယ်သောက်ဖွယ်များ ကုန်ခမ်းသွားသည့်အခါ အိမ်သို့ ပြန်လာပြီးလျှင် စားဖွယ်သောက်ဖွယ်များကို ယူဆောင်၍ ပြန်လည် ကြွသွားတော်မူပြီး ယခင်အတိုင်း ဆက်လက်၍ တရားအာရုံ ပြုလေ့ရှိတော်မူ၏။

တမန်တော်မြတ်သည် ဟိရာလိုဏ်ဂူတွင် တရားအားထုတ်လေ့ ဝတ်ပြုလေ့ရှိတော်မူသည့်အကြောင်း ဗုခါရီကျမ်းတွင် အတည့်အလင်းပါရှိ၏။ တမန်တော်မြတ်၏ ထိုတရားအားထုတ်ခြင်းနှင့် ဝတ်ပြုခြင်းကား အသို့နည်း။ အဆိုပါအကြောင်းနှင့်စပ်လျဉ်း၍ ဗုခါရီကျမ်း၏ အဖွင့်ဖြစ်သော ဆိုင်နီကျမ်းတွင် အောက်ပါအတိုင်း တွေ့ရှိရပေသည်။

قيل ما كان صفة تعبده؟ أجيب بأن ذلك كان بالتفكر والاعتبار

တမန်တော်မြတ်၏ ထိုဝတ်ပြုခြင်းကား အသို့နည်းဟု မေးသည်ရှိသော် တမန်တော်မြတ်၏ ထိုဝတ်ပြုခြင်းကား တွေးခေါ်မြော်မြင် စဉ်းစားဆင်ခြင်ခြင်းနှင့် တရားယူခြင်းပင်ဟူ၍ ဖြေဆိုရပေမည်။

တမန်တော်မြတ်၏ ထိုဝတ်ပြုခြင်း၊ တရားအားထုတ်ခြင်းသည် တမန်တော်မြတ်၏ ဘိုးတော် တမန်တော်အီဗ်ရာဟီမ်(အလိုင်ဟစ္စလာမ်) နဗီမဖြစ်မီအလျင် ပြုကျင့်ခဲ့သော ဝတ်ပြုခြင်း၊ တရားအားထုတ်ခြင်း မျိုးပင်ဖြစ်သည်။

တမန်တော်အီဗ်ရာဟီမ်( အလိုင်ဟစ္စလာမ်)သည် ကောင်းကင်၌ ကြယ်တာရာများကို ရှုမြင်သည့်အခါ ဘုန်းတန်ခိုးတော်၏ အရိပ်အရောင်ဟု ထင်မြင်အံ့ဩခဲ့၏။ လကို ရှုမြင်သောအခါ ပို၍ပင် ထင်မြင်အံ့ဩခဲ့၏။ နေကို ရှုမြင်ပြန်သောအခါ တစ်ဖန် ပို၍ပင် ထင်မြင်အံ့ဩခြင်း ဖြစ်ခဲ့လေသည်။ သို့ရာတွင် ကြယ်တာရာ၊ လနှင့် နေတို့ အသီးသီး ပျောက်ကွယ်၍ သွားကြသောအခါ အောက်ပါအတိုင်း အလိုက်အလျောက် ကြွေးကြော်လေတော့သည်။ 



( لَآ أُحِبُّ الْاٰفِلِيْنَ )

ကျွန်ုပ်သည် ပျောက်ကွယ်သွားသော အရာများကို မနှစ်သက်ပါ။ ကုရ်အာန် (၆း၇၈)။

( اِنِّيْ وَجَّهْتُ وَجْهِيَ لِلَّذِيْ فَطَرَ السَّمٰوٰتِ وَالْاَرْضَ )

ကျွန်ုပ်သည် ပထဝီမြေနှင့် မိုးများကို ဖန်ဆင်းတော်မူသော အရှင်မြတ်ဘက်သို့သာလျှင် မိမိ၏မျက်နှာကို လှည့်ပါပြီ။

**ကောင်းမြတ်သော အိပ်မက်များကို မြင်မက်တော်မူခြင်း။**

တစ်နေ့သော် တမန်တော်မြတ်သည် မိမိအလေ့အထ "ဟီရာ"ဥမင်လိုဏ်ခေါင်းတွင် တရားဆည်းပူး လျက်ရှိစဉ် ကောင်းကင်တမန်ကို ရှုမြင်ရတော်မူ၏။ ထိုကောင်းကင်တမန်က တမန်တော်မြတ်အား ဤသို့ လျှောက်ထားပန်ကြား၏။

အသင်သည် အကြင်အရှင်၏ နာမံတော်ဖြင့် အစပြု၍ ရွတ်ဖတ်သရဇ္ဈာယ်ပါလေ။ ထိုအရှင်မြတ်သည် (ကမ္ဘာ့အဝန်းကို) ဖန်ဆင်းတော်မူ၏။ ထိုအရှင်မြတ်သည် လူသားကို သွေးခဲတစ်ခုဖြင့် ဖန်ဆင်းတော်မူ၏။ အသင်သည် ရွတ်ဖတ်သရဇ္ဈာယ်ပါလေ။ အသင့်အား မွေးမြူတော်မူသော အရှင်သည် အလွန်တစ်ရာမျှ နူးညံ့သိမ်မွေ့တော်မူသော (ရက်ရောတော်မူသော) အရှင်ဖြစ်တော်မူ၏။ ထိုအရှင်သည် (လူသားကို) "ကလမ်" မင်တံဖြင့် အသိပညာကို သင်ကြားပေးတော်မူ၏။ ထိုအရှင်သည် လူသားအား ထို(လူသား) မသိသော အရာများကိုလည်း သင်ကြားပေးတော်မူ၏။ ကုရ်အာန် (၉၆း၁-၅)။

ထို့နောက် တမန်တော်မြတ်သည် မိမိနေအိမ်သို့ ပြန်ကြွလာတော်မူ၏။ ထိုအချိန်တွင် တမန်တော်မြတ်သည် အလ္လာဟ်အရှင်မြတ်၏ ဘုန်းတန်ခိုးတော်များကို ခံစားတော်မူလျက်ရှိ၏။ တမန်တော်မြတ်သည် မိမိတွေ့ကြုံခဲ့သည့် အဖြစ်အပျက် အလုံးစုံကို ကြင်ရာတော် ခဒီဂျဟ်သခင်မအား ပြောပြတော်မူ၏။

တမန်တော်မြတ်သည် ယင်းကဲ့သို့ ကောင်းကင်တမန်အား တွေ့မြင်ရသောအခါ စိုးရိမ်ရှာတော်မူ၏။ ထိုအခါ ခဒီဂျဟ်သခင်မက "သခင် မစိုးရိမ်ပါလင့်၊ အလ္လာဟ်အရှင်မြတ်သည် သခင်အား စွန့်လွှတ်ထားတော်မူမည် မဟုတ်ပါ" ဟု ပြောဆိုနှစ်သိမ့်စေလေသည်။

တမန်တော်မြတ်က "ကျွန်ုပ် စိုးရိမ်မိပါသည်" ဟု ပြောကြားတော်မူခဲ့သည်မှာ မှန်၏။ သို့ရာတွင် ဤ စိုးရိမ်မှု၊ ထိတ်လန့်မှု၊ ကြောက်ရွံ့မှုသည် အလ္လာဟ်အရှင်မြတ်၏ ဘုန်းတန်ခိုးတော် အာနုဘော်၏ အဟုန်ကြောင့်လည်းကောင်း၊ နဗီတမန်တော်၏ ကြီးမားလှသော တာဝန်ကို တွေးခေါ်မြော်မြင်မိခြင်းကြောင့် လည်းကောင်း၊ ဖြစ်ပေသည်။ တမန်တော်မြတ်သည် အဘယ်အရာကို ရှုမြင်တော်မူခဲ့သည်။ ကောင်းကင် တမန်တော်က မည်သို့ ပြောကြားခဲ့သည်။ မည်ပုံ တွေ့မြင်တော်မူခဲ့သည်။ မည်သို့သော အခြင်းလက္ခဏာများ ဖြစ်ပေါ်ခဲ့သည်။ ဤသည်တို့ကား အလွန်တရာမျှ နက်နဲလှ၏။ နူးညံ့သိမ်မွေ့လှ၏။ ဤသည်တို့ကို အက္ခရာများဖြင့် ရေးသားဖော်ပြရန်ကား မဖြစ်နိုင်ပေ။

တမန်တော်မြတ်သည် ကောင်းကင်တမန်အား တွေ့မြင်၍ ဦးစွာပထမ အလ္လာဟ်အရှင်မြတ်၏ အာယတ်တော်ကို ကြားနာရသောအခါ မိမိနေအိမ်သို့ ပြန်ကြွလာပြီးလျှင် ခဒီဂျဟ်သခင်မအား မိမိ စိုးရိမ်မိကြောင်း ပြောပြတော်မူရာ ခဒီဂျဟ်သခင်မက အောက်ပါအတိုင်း ပြောဆိုနှစ်သိမ့်စေလေသည်။

"သခင်၊ အလျဉ်း မစိုးရိမ်ပါလင့်၊ အလ္လာဟ်အရှင်မြတ်သည် သခင့်အား ဘယ်သောအခါမျှ အရှက်တကွဲ အကျိုးနည်း ဖြစ်စေတော်မူမည် မဟုတ်ပါ။ အဘယ်ကြောင့်ဆိုသော် သခင်သည် သားချင်းများနှင့် ကောင်းစွာဆက်ဆံတော်မူပါသည်။ သူတစ်ပါး၏ တာဝန်ကိုလည်း ထမ်းဆောင်တော်မူပါသည်။

➤➤ မရှိဆင်းရဲသူများကိုလည်း ပေးကမ်းတော်မူပါသည်။ ညှော်သည်တော်များအားလည်း ညှော်ခံကျွေးမွေးတော်မူပါသည်။မုန့်ကန်သော ပြဿနာများကိုလည်း ထောက်ခံတော်မူပါသည်။" ကြည့်-ဗုခါရီ။ တမန်တော်မြတ်။ ၁-(၉၉-၁၀၂)။

ဆိုလိုသည်ကား တမန်တော်မြတ်သည် မိမိထံ ကျရောက်အံ့သော ကုရ်အာန်ကျမ်းလာ အာယတ်တော်များကို (ယင်းအာယတ်တော်များတွင် ယခုကျရောက်သော ဤအာယတ်တော်ငါးပါးလည်း အပါအဝင်ဖြစ်သည်) မိမိအား ဖန်ဆင်းမွေးမြူတော်မူသောအရှင်၏ နာမံတော်ကို တသကာ ရွတ်ဖတ်သရဇ္ဈာယ်ပါလေ။

ဤအာယတ်တော်တွင် အလ္လာဟ်အရှင်မြတ်သည် မိမိ၏ ဂုဏ်တော်အနက် "ရဗ္ဗ" ဟူသော ဂုဏ်တော်ကို ဦးစွာပထမ သုံးနှုန်းထားတော်မူသည်။ "ရဗ္ဗ" ၏ အနက်ကား ကျယ်ဝန်းလှ၏။ နက်နဲလှ၏။ သိမ်မွေ့လှ၏။ ယင်း "ရဗ္ဗ" ဟူသောပုဒ်နှင့်စပ်လျဉ်း၍ အကျယ်ဖွင့်ဆိုရေးသားခဲ့ပေပြီ။ ဆိုလိုသည်ကား တမန်တော်မြတ်အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်သည် တမန်တော်မြတ်အား မိခင်၏ ရင်နှစ်ခင် ဖွားမြင်သည့် အချိန်မှစ၍ ယခုအထိ အံ့ဖွယ်သရဲ မွေးမြူပြုစုပျိုးထောင်ပေးတော်မူခဲ့ပေရာ ထိုအရှင်မြတ်သည် ရှေ့ဆက်လက်၍ တမန်တော်မြတ်အား အဘက်ဘက်တွင် ပြည့်ဝစုံလင်အောင် ပြုလုပ်ပေးတော်မူသည်သာမက တမန်တော်မြတ်အား "နုဗုဝါတ်" တမန်တော်အဖြစ်၏ အထွဋ်အထိပ်သို့ပင် ပို့ဆောင်ပေးတော်မူမည်ဖြစ်သည်။ ဤသည့်သဘောကို "ရဗ္ဗ" ဟူသောပုဒ်သည် ရည်ညွှန်းလျက် ရှိပေသည်။

ရှေ့တွင် ဆက်လက်၍ "ရဗ္ဗ" ၏ ဝိသေသများကို မိန့်ဆိုထားတော်မူသည်မှာ ထိုအရှင်မြတ်သည်ပင် သက်ရှိသက်မဲ့ အရာခပ်သိမ်းတို့ကို စတင်ဖန်ဆင်းထားတော်မူသောအရှင် ဖြစ်တော်မူသည်။ အဖန်ဆင်းခံများတွင် လူသားသည် အမြင့်မြတ်ဆုံးဖြစ်သည်။ ထိုသည့်လူသားကိုလည်း ထိုသည့်အရှင်မြတ်ပင် သွေးစိုင်သွေးခဲဖြင့် အံ့ဖွယ်သရဲ ဖန်ဆင်းထားတော်မူသည်။ လူသားသည် သွေးခဲမျှသာ ဖြစ်ခဲ့သည်။ ထိုအရှင်မြတ်သည် လူသားအား ထိုသည့်သွေးခဲအဖြစ်မှ ကမ္ဘာဇာတ်ခုံပေါ်တွင် အလှဆုံးပုံသဏ္ဌာန်၊ အပြည့်ဝဆုံး အရည်အချင်း၊ အထက်မြက်ဆုံး စွမ်းရည်၊ အမြင့်မြတ်ဆုံး အသိဉာဏ်များ ချီးမြှင့်၍ အံ့မဆုံး၊ အမြင့်မြတ်ဆုံး သတ္တဝါအဖြစ် မြှောက်စားထားတော်မူသည်။

ထိုအရှင်မြတ်သည် အလွန်ရက်ရောတော်မူသောအရှင် ဖြစ်တော်မူသည်။ မိမိအလိုတော်ဖြင့် အတိုင်းမသိ ရက်ရောစွာ ချီးမြှင့်ပေးကမ်းတော်မူသည်။

လူသားသည် တစ်ချိန်က မဖတ်တတ် မရေးတတ်ခဲ့ချေ။ စာပေလောကတွင် အလွန်နိမ့်ကျ၍ နေခဲ့ပေသည်။ ထို့အတူ လူသားသည် တစ်ချိန်က ဘာမျှ မသိခဲ့ပေ။ အသိပညာ သိပ္ပံလောကတွင် အလွန်နိမ့်ကျ၍ နေခဲ့ပေသည်။ ထိုအရှင်မြတ်သည်ပင် ထိုသည့်လူသားအား "ကလမ်" ကလောင်တံဖြင့်ရေးမှတ်ရန် သင်ကြားပေးတော်မူခဲ့ပေသည်။ ထိုအရှင်မြတ်သည်ပင် လူသားအား မသိသောအရာများကို သင်ကြားပြသတော်မူခဲ့ပေသည်။ ထိုအရှင်မြတ်သည် စကြာဝဠာအဝန်းကို စတင် ဖန်ဆင်းတော်မူသောအရှင်၊ အဆင့်ဆင့် ပြုစုပျိုးထောင် မွေးမြူတော်မူသောအရှင်၊ အလွန့်အလွန် ရက်ရောစွာ ပေးကမ်းတော်မူသောအရှင်၊ ကလောင်ဖြင့် ရေးမှတ်ရန် သင်ကြားပေးတော်မူသောအရှင်၊ လူသား မသိသည်များကို လူသားအား သင်ကြားပြသတော်မူသောအရှင် ဖြစ်တော်မူ၏။ ထိုအရှင်မြတ်၏ တန်ခိုးတော်ကား အတိုင်းမသိ ကြီးမားဘိ၏။ သို့ဖြစ်ရာ အဖန်ဆင်းခံ အားလုံးတို့သည် ထိုအရှင်မြတ်အားသာလျှင် ခဝပ်ကိုးကွယ်ရာ၏။ ထိုအရှင်မြတ်အားသာလျှင် အောက်မေ့တသရာ၏။ ထိုအရှင်မြတ်၏ တရားတော်များကိုသာလျှင် ဦးထိပ်ရွက်ပန်ဆင်ရာ၏။ ထိုအရှင်မြတ်၏ အာယတ်တော်များကိုသာလျှင် ရွတ်ဖတ်သရဇ္ဈာယ်ရာ၏။ ထိုအရှင်မြတ်၏အာယတ်ဂုဏ်တော်များကိုသာလျှင် မွမ်းရာ၏။ ➤➤

كَلَّآ إِنَّ الْإِنسَانَ لَيَطْغَىٰٓ ⑥

၆။ မှတ်ယူကြလေကုန်၊ စင်စစ်မလွဲ လူသည် ဆိုးသွမ်း ပုန်ကန်လေ့ရှိ၏။

أَن رَّءَاهُ اسْتَغْنَىٰٓ ⑦

၇။ ၎င်းသည် မိမိကိုယ်ကို လိုလားတောင့်တခြင်း ကင်းမဲ့သည်ဟု ထင်မြင်သောကြောင့်။ [1]

إِنَّ إِلَىٰ رَبِّكَ الرُّجْعَىٰٓ ⑧

၈။ စင်စစ်မလွဲ (အားလုံးတို့၏) ပြန်လည်ရောက်ရှိခြင်းသည် အသင်၏အရှင်မြတ် အထံတော်သို့သာ လျှင်ဖြစ်သည်။

أَرَءَيْتَ الَّذِى يَنْهَىٰ ⑨

၉။ (အို-နဗီတမန်တော်) အသင်သည် အကြင်သူ အားမြင်ခဲ့လေသလော။ ထိုသူသည် တားမြစ်၏။

---

➤➤ ထိုသို့သော အရှင်မြတ်ကပင် တမန်တော်မြတ်အား မွေးမြူပြုစုပျိုးထောင်ပေးတော်မူမည်ဖြစ်ရာ၊ ထိုသို့သောအရှင်မြတ်ကပင် တမန်တော်မြတ်အား သင်ကြားပြသတော်မူမည်ဖြစ်ရာ၊ ထိုသို့သော အရှင်မြတ်ကပင် တမန်တော်မြတ်အား ရက်ရောစွာ မြှောက်စားတော်မူမည်ဖြစ်ရာ၊ တမန်တော်မြတ်သည် အသို့လျှင် ကမ္ဘာ့အထွတ်အထိပ်သို့ မရောက်ရှိဘဲ ရှိတော်မူအံ့နည်း။ ထိုသို့သော အရှင်မြတ်ကပင် တမန်တော်မြတ်အား ကမ္ဘာတစ်သက် တည်ရှိမည့် ကမ္ဘာ့ကျမ်းဂန် ကုရ်အာန်ကို ရွတ်ဖတ်ဟောကြားစေတော်မူခဲ့ရာ တမန်တော်မြတ်သည် ဘမ္ဘာ့သမိုင်းစဉ်တွင် စံမတူအောင် ဟောကြားသွားတော်မူခဲ့သည် မဟုတ်ပါလော။

တမန်တော်မြတ်ထံသို့ ယင်းသို့ ကုရ်အာန်ကျမ်းလာ အာယတ်တော်များ စတင်ကျရောက်လာခဲ့သည့် အချိန်မှစ၍ တမန်တော်မြတ်၌ အတိုင်းမသိ ကြီးမားသော စွမ်းရည်သတ္တိများ ရရှိလာပြီး အံ့ချီးမဆုံးသော ပြောင်းလဲမှုများ ပေါ်ပေါက်လာခဲ့ပေသည်။ ထိုအချိန်မှစ၍ တမန်တော်မြတ်သည် မိမိ၏ သားချင်းများ၊ မိမိ၏ အမျိုးသားများနှင့် ကမ္ဘာ့အဝန်းတွင် ရှိနေသော မိတ္တာအမောင်များကို ကုရ်အာန်ဖြင့် စတင်ဖြို့ခွင်းတော်လှန်တော်မူခဲ့လေသည်။ ယနေ့လည်း ကျွန်ုပ်တို့သည် မိစ္ဆာအမှောင်များကို ဖြို့ခွင်းတော်လှန်လိုပါက ကုရ်အာန်ကျမ်းမြတ်ဖြင့်သာလျှင် ဖြို့ခွင်းတော်လှန်နိုင်ကြပေမည်။

(၁) လူသားသည် သွေးစိုင်သွေးခဲမှ ဖြစ်ပေါ်လာခဲ့၏။ အမိဝမ်းတွင်းမှ မွေးဖွားလာစဉ် ပညာမဲ့သက်သက်သာ ဖြစ်ခဲ့၏။ လူ၏ မူလအခြေအမြစ်မှာ ဤမျှသာ ဖြစ်ခဲ့ပေသည်။ အလ္လာဟ်အရှင်မြတ်သည်ပင် ယင်းသည့် လူသားအား အသိပညာပေးတော်မူ၏။ ၎င်းအဖို့ စားဝတ်နေရေးများကိုလည်း လိုလေသေးမရှိ စီစဉ်ပေးထားတော်မူ၏။ သို့တစေလည်း ကျေးဇူးမသိတတ်သော လူသားသည် မိမိ၏ မူလသဘာဝကို မေ့ကာ လောကီစည်းစိမ်များတွင် နစ်မွန်းလာ၏။ ငါသည် ငါပင်ဖြစ်၏။ ငါသည် တစ်စုံတစ်ရာကို လိုလားတောင့်တ ကြောင့်ကြရသည် မရှိဟု ထင်မြင်ကာ မိမိကိုယ်ကို မိမိ အထင်ကြီးလာ၏။ ဘဝင်မြင့်လာ၏။ မောက်မာလာ၏။ နောက်ဆုံးတွင် အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်များကိုပင် သွေဖည်ငြင်းဆန်လာ၏။ ဤသည် မိမိ၏မူလဘာဝကို မေ့ပျောက်ကာ မိမိကိုယ်ကို မိမိ အထင်ကြီးခြင်း၊ ဘဝင်မြင့်ခြင်း၊ အောက်ခြေလွတ်ခြင်း၊ ဝင့်ဝါခြင်း၏ အကျိုးပင်။

عَبْدًا إِذَا صَلَّىٰ ⑩

၁၀။ (အလ္လာဟ်အရှင်မြတ်၏) ကျွန်တပါးအား ထိုကျွန်သည် ဆွလာတ်ဝတ်ပြုသောအခါဝယ်။

أَرَأَيْتَ إِن كَانَ عَلَى الْهُدَىٰ ⑪

၁၁။ (အို-နဗီတမန်တော်) အသင်သည် (ထိုလူ၏ အခြေအနေကို) ပြောပြပါလေ။ အကယ်၍ ၎င်းသည် တရားလမ်းမှန်ပေါ်၌ရှိခဲ့မူ။

أَوْ أَمَرَ بِالتَّقْوَىٰ ⑫

၁၂။ သို့တည်းမဟုတ် ၎င်းသည် (ပြစ်မှုများမှ) ကြဉ်ရှောင်ရန် အမိန့်ပေးခဲ့မူ (မကောင်းပါလော)။

أَرَأَيْتَ إِن كَذَّبَ وَتَوَلَّىٰ ⑬

၁၃။ (အို-နဗီတမန်တော်) အသင်သည် (ထိုသူ၏ အခြေအနေကို) ပြောပြပါလေ။ အကယ်၍ ၎င်းသည် (နဗီတမန်တော်အား) မဟုတ်မမှန်ဟူ၍ စွပ်စွဲငြင်းပယ်ပြီးနောက် (အီမာန်သက်ဝင်ယုံကြည်ခြင်းမှ) မျက်နှာလွှဲဖယ်ခဲ့သော် (မည်သူ့အကျိုးယုတ်အံ့နည်း)။

أَلَمْ يَعْلَم بِأَنَّ اللَّهَ يَرَىٰ ⑭

၁၄။ အလ္လာဟ်အရှင်မြတ်သည် ဧကန်အမှန် ရှုမြင်တော်မူသည်ကို ထိုသူသည် မသိခဲ့လေသလော။

كَلَّا لَئِن لَّمْ يَنتَهِ لَنَسْفَعًا بِالنَّاصِيَةِ ⑮

၁၅။ မှတ်ယူလော့၊ အကယ်၍ ထိုသူသည် (မိမိ အပြုအမူကို) မရပ်စဲခဲ့သော်၊ ဧကန်မလွဲ ငါအရှင်မြတ်သည် (၎င်း၏)ဦးစွန်းကိုကိုင်၍ ဆွဲတော်မူမည်။

نَاصِيَةٍ كَاذِبَةٍ خَاطِئَةٍ ⑯

၁၆။ (ထိုဦးစွန်းကား) မုသားပြောဆိုလေ့ရှိသော၊ ပြစ်မှုကျူးလွန်လေ့ရှိသော ဦးစွန်းပင်။

فَلْيَدْعُ نَادِيَهُ ⑰

၁၇။ သို့ဖြစ်ပေရာ ၎င်းသည် မိမိ၏အခြွေအရံများကိုခေါ်ယူစေ။

سَنَدْعُ الزَّبَانِيَةَ ⑱

၁၈။ ယခုပင် ငါအရှင်မြတ်သည်လည်း ငရဲစောင့်ကောင်းကင်တမန်တို့ကို ခေါ်ယူတော်မူမည်။ ၁

---

(၁) ကျေးဇူးမသိတတ်သော သွေးဖည်ငြင်းဆန် မနာခံသော ကာဖိရ် သူယုတ်မာ၏ ယုတ်မာမှုကား အံ့တစ်ပါးပင်။ ထိုသို့သော သူယုတ်မာသည် မိမိကိုယ်တိုင် အလ္လာဟ်အရှင်မြတ်၏ ရှေ့တော်၌ ဦးမချသည်သာမက ➢➢

كَلَّا ۚ لَا تُطِعْهُ وَاسْجُدْ وَاقْتَرِب ۩ ⑲ السجدة

၁၉။ အလျှင်းမဟုတ်၊ (အို-နဗီတမန်တော်) အသင်သည် ၎င်း၏စကားကို မလိုက်နာလေနှင့်၊ ထို့ပြင် အသင်သည် (အလ္လာဟ်အရှင်မြတ်အား) "စဂျ်ဒဟ်" ပျပ်ဝပ်ဦးချပါလေ။ ၎င်းပြင် အသင်သည် (ဝတ်ပြုခြင်းအားဖြင့် ထိုအရှင်မြတ်အပါးတော်သို့) ချဉ်းကပ်ပါလေ။ [၁]

---

➤➤ ထိုအရှင်မြတ်၏ ရှေ့တော်၌ သူတစ်ပါး ပျပ်ဝပ်ရိုကျိုးရှိခိုးဦးချနေသည်ကိုလည်း မကြည့်လို၊ မမြင်လို၊ မရှုလိုပေ။ စက်ဆုပ်ရွံရှာမုန်းတီးပေသည်။ ဤအာယတ်တော်များတွင် အစ္စလာမ်ကို အသက်ထက်ဆုံး ဆန့်ကျင်သွားခဲ့သော အဗူဂျဟ်လ်အား ရည်ညွှန်းထားသည်။ အဗူဂျဟ်လ်သည် တမန်တော်မြတ်အား ကအ်ဗဟ်ကျောင်းတော်၌ ဆွလာတ်ဝတ်ပြုနေသည်ကို မြင်လျှင် တားမြစ်လေ့ရှိခဲ့၏။ ပြက်ရယ်ပြောင်လှောင်လေ့ရှိခဲ့၏။ ခြိမ်းခြောက်လေ့ရှိခဲ့၏။ အဗူဂျဟ်လ်သည် တမန်တော်မြတ်အား အမျိုးမျိုး ဒုက္ခပေးလေ့ရှိခဲ့၏။

ဤတွင် စဉ်းစားဆင်ခြင်အပ်သည့်အချက်တစ်ရပ်မှာ တမန်တော်မြတ်သည် အလ္လာဟ်အရှင်မြတ်အား ဝတ်ပြုတော်မူ၏။ မိမိကိုယ်တိုင် တရားလမ်းမှန်ပေါ်၌ ရပ်တည်လျက်ရှိတော်မူ၏။ အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ရှိသေ ခန့်ညားရန် သူတစ်ပါးတို့ကိုလည်း သွန်သင်ဆုံးမတော်မူ၏။ထိုသို့သော တမန်တော်မြတ်အား မိမိကိုယ်တိုင် တရားလမ်းလွဲမှားနေသော အမှန်တရားကို မယုံကြည်သော မကျင့်မှုသော ဆန့်ကျင်နေသော အဗူဂျဟ်လ်ကဲ့သို့သော သူယုတ်မာတစ်ဦးက ဆွလာတ်ဝတ်ပြုခြင်းမှ တားဆီးပိတ်ပင်၏။ ဤသည်တရားမရှိသူက တရားရှိသူအား ဆွလာတ်ဝတ်မပြုသူက ဆွလာတ်ဝတ်ပြုသူအား ပိတ်ပင်တားဆီးခြင်းပင်။ ဤကား ပို၍ အံ့ဖွယ်ကောင်းလှ၏။ ပို၍ပင် ဆိုးရွားလှ၏။

ယင်းသူယုတ် သိထားအပ်သည်မှာအလ္လာဟ်အရှင်မြတ်သည် ထိုသူယုတ်မာ၏ ယုတ်မာမှုအစုစုကိုလည်း အကြွင်းမဲ့ သိတော်မူ၏။ တမန်တော်မြတ်၏ ကုသိုလ်ကောင်းမှု အစုစုကိုလည်း အကြွင်းမဲ့သိတော်မူ၏။ သို့သိတော်မူသည့်အလျောက် တိကျမှန်ကန်စွာ ကျိုးပြစ်ပေးတော်မူမည်သာ ဖြစ်၏။ အကယ်၍ ထိုသူယုတ်သည် မိမိအခြေအရံများကို အထင်ကြီးနေလျှင်၊ မိမိ၏ ယုတ်မာမှုများမှ မရပ်တန့်လျှင် အလ္လာဟ်အရှင် မြတ်သည် ထိုသူ၏ ဦးစွန်းကိုဆွဲ၍ ငရဲသို့ မောင်းနှင်တော်မူမည်သာဖြစ်သည်။ သို့ဖြစ်ရာ ယင်းသူယုတ်သည် ဖြစ်နိုင်ပါက မိမိအား ကာကွယ်ပေးရန်အတွက် မိမိ၏အခြေအရံများကို ခေါ်ယူနိုင်ပေသည်။ အလ္လာဟ်အရှင်မြတ်သည်လည်း ပြစ်ဒဏ်ပေးသည့် ကောင်းကင်တမန် ဗိုလ်ခြေများအား ဆင့်ခေါ်တော်မူရန် အသင့်ပင်။ ဤသို့ဖြင့် အလ္လာဟ်အရှင်မြတ်သည် သူယုတ်တို့အား ကြုံးဝါးထားတော်မူသည်။

(၁) အလ္လာဟ်အရှင်မြတ်သည် သူယုတ်မာအား အထက်တွင်ပါရှိသည့်အတိုင်း ကြုံးဝါးထားတော်မူပြီးနောက် တမန်တော်မြတ်အား "အသင်သည် ထိုသူယုတ်အား ဂရုမှုနေရန်မလို၊ (သူ၏စကားကို နားထောင်ရန်မလို) အလိုရှိရာနေရာတွင် ယခင်နည်းတူ အလ္လာဟ်အရှင်မြတ်အား ဦးချရှိခိုးပါလေ။ သို့ဦးချရှိခိုး၍ အလ္လာဟ်အရှင်မြတ်ထံတော်သို့ ချဉ်းကပ်ပါလေ။ နီးစပ်သည်ထက် နီးစပ်အောင် ကြိုးစားပါလေဟု မိန့်ကြားထားတော်မူသည်။

တမန်တော်မြတ်၏ ဟဒီဆ်သြဝါဒတော်များတွင် လူသားတို့အဖို့ အလ္လာဟ်အရှင်မြတ်နှင့် အနီးစပ်ဆုံး အဖြစ်အနေမှာ စဂျ်ဒဟ်ဦးချချိန်ပင် ဖြစ်သည်ဟူ၍ လာရှိပေသည်။ ➤➤

# မြင့်မြတ်ခြင်း(ညဉ့်) ကဏ္ဍ

سُورَةُ الْقَدْرِ

ဤကဏ္ဍသည် "စူရတုလ်ကဒ်ရ်" ကဒ်ရ်-မြင့်မြတ်ခြင်း ကဏ္ဍမည်၏။ မက္ကာမြို့တော်၌ ကျရောက်ခဲ့၏။ ဤကဏ္ဍတွင် အာယတ်တော်(၅)ပါး ပါရှိ၏။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ

မပြတ်မစဲသနားကြင်နာ ညှာတာတော်မူသော
မဟာကရုဏာတော်ရှင် ဖြစ်တော်မူသော
အလ္လာဟ်အရှင်မြတ်၏နာမံတော်ဖြင့် အစပြုပါ၏။

إِنَّآ أَنزَلْنٰهُ فِى لَيْلَةِ الْقَدْرِ ①

၁။ ကေန်မလွဲ ငါအရှင်မြတ်သည်ပင် ယင်းကုရ်အာန်ကျမ်းတော်မြတ်ကို *"လိုက်လသုလ်ကဒ်ရ်" မြင့်မြတ်သောညဉ့်၌* [၁] ချပေးသနားတော်မူခဲ့၏။

وَمَآ أَدْرٰىكَ مَا لَيْلَةُ الْقَدْرِ ②

၂။ စင်စစ် "လိုက်လသုလ်ကဒ်ရ်" မြင့်မြတ်သောညဉ့်သည် အဘယ်နည်းဟု အသင်သိပါသလော။

---

➤➤ <u>မှတ်ချက်</u>။

ဤကဏ္ဍ၏ နောက်ဆုံးအာယတ်တော် (၉၆:၁၉) သည် "စဂ်ျဒဟ်တိလာဝါတ်" ပြုရသောအာယတ်တော်များတွင် အပါအဝင်ဖြစ်သည်။ ဤအကြောင်းနှင့်စပ်လျဉ်း၍ ကုရ်အာန် (၇:၂၀၆)၏ အဖွင့်တွင် အကျယ်ဖွင့်ဆိုရေးသားခဲ့ပါပြီ။

① <u>"ကဒ်ရ်" ညဉ့်</u>

"ကဒ်ရ်"ဟူသော ပုဒ်၏ အနက်မှာ ကြွယ်လှသည်။ ယင်းပုဒ်ကို ကုရ်အာန်တွင် အနက်အဓိပ္ပါယ်အမျိုးမျိုး၌ သုံးနှုန်းထား တော်မူသည်။ "ကဒ်ရ်" ဟူသောပုဒ်သည် မှန်းဆ ရာထားခြင်း၊ စီမံခန့်ခွဲခြင်း၊ စွမ်းဆောင်နိုင်ခြင်း၊ စွမ်းဆောင်စေနိုင်ခြင်း၊ မြင့်မြတ်ခြင်း၊ လေးစားအပ်ခြင်းစသည်ဖြင့် အနက်အမျိုးမျိုး၌ အသုံးဖြစ်ချေသည်။

(၁) အလ္လာဟ်အရှင်မြတ်သည် ကဒ်ရ်ညဉ့်တွင် အရေးကြီးသော ကိစ္စများကို စီမံခန့်ခွဲတော်မူသည်။ ယင်းသို့ စီမံခန့်ခွဲတော်မူသည်ကို အကြောင်းပြုပြီး အဆိုပါညဉ့်ကို ကဒ်ရ်ညဉ့် (ဝါ) စီမံခန့်ခွဲတော်မူသော ညဉ့်ဟု အမည်မှည့်ခေါ်ထားခြင်းဖြစ်သည်။

(၂) "ကဒ်ရ်" ဟူသော ပုဒ်သည် ထူးကဲမြင့်မြတ်ခြင်း၊ လေးစားအပ်ခြင်း အနက်၌လည်းလာရှိသည်။ ကဒ်ရ်ညဉ့်သည် အလွန်ထူးကဲမြင့်မြတ်သည်။ ယင်းသို့ ထူးကဲမြင့်မြတ်သည်ကို အကြောင်းပြု၍ ထိုညဉ့်ကို ကဒ်ရ်ညဉ့် (ဝါ) ထူးကဲမြင့်မြတ်သောညဉ့်ဟု အမည်မှည့်ခေါ်ထားခြင်းလည်း ဖြစ်တန်ရာသည်။ ➤➤

لَيْلَةُ الْقَدْرِ خَيْرٌ مِّنْ أَلْفِ شَهْرٍ ③

၃။ "လိုက်လသုလ်ကဒ်ရ်" မြင့်မြတ်သော ညဉ့်ကား လပေါင်းတစ်ထောင်ထက်ပင် ပိုမို၍ ကောင်းမြတ်လှ၏၊[၃]

## ➤➤ ကဒ်ရ်ညဉ့်၌ပင် ကုရ်အာန် စတင်ကျရောက်ခဲ့ခြင်း။

အလ္လာဟ်အရှင်မြတ်သည် ကုရ်အာန်ကျမ်းမြတ်ကို ရမသွာန်လမြတ်၊ ကဒ်ရ်ညဉ့်တွင် 'လောဟ်မဟ်ဖူဇ်' ဤမျက်မှောက်ကမ္ဘာ၏ မိုးကောင်းကင်းသို့ စတင်ထုတ်ပြန်ချမှတ်တော်မူခဲ့လေသည်။ ထိုမှတစ်ဆင့် ထိုညဉ့်မှစ၍ တမန်တော်မြတ်ထံသို့ အာယတ်တော်များသည် (၂၃)နှစ်တိုင်တိုင် လိုအပ်သမျှ တဖြည်းဖြည်း ကျရောက်လာခဲ့ပေသည်။ ဤအကြောင်း ကုရ်အာန် (၄၄း၁-၄)တွင်လည်း ပါရှိခဲ့ချေပြီ။

## ကဒ်ရ်ညဉ့်သည် အဘယ်ညဉ့်နည်း။

ကဒ်ရ်ညဉ့်နှင့်စပ်လျဉ်း၍ အဆိုအမျိုးမျိုးရှိသည်။

(၁) အများပညာရှင်များ၏ ယူဆချက်အရ ကဒ်ရ်ညဉ့်သည် ရမသွန်လမြတ်၏ နောက်ဆုံး (၁၀) ညဉ့်အနက် (စုံမဟုတ်) မ-ဖြစ်သော ညဉ့်တစ်ညဉ့် ဖြစ်သည်။

(၂) အချို့ပညာရှင်များက ကဒ်ရ်ညဉ့်သည် ရမသွာန်လမြတ် (၂၇) ရက်နေ့ညဉ့်ဖြစ်သည်ဟု ဆိုကြသည်။ အီမာမ်အဗူဟနီဖဟ်သခင်ကလည်း ဤအတိုင်းဆိုသည်။

## မှတ်ချက်။

အချုပ်အားဖြင့် ရေးရသည်ရှိသော် အလ္လာဟ်အရှင်မြတ်သည် ကဒ်ရ်ညဉ့်ကို ဖုံးကွယ်ထားတော်မူသည်။ ဤကား အဆန်းမဟုတ်ပေ၊ အလ္လာဟ်အရှင်မြတ်သည်အခြားမြောက်မြားစွာသော အရာများကိုလည်း ဖုံးကွယ်ထားတော်မူသည်။ ဥပမာ ထိုအရှင်မြတ်သည် ဂျုမ်မ်အဟ် (သောကြာနေ့) ဆုတောင်းပြည့်အချိန်၊ (ဆွလာတ်ဝုစ်တ) အလယ်ဆွလာတ်၊ (ဣစ်မုအအ်ဇွာမ်) အမြင့်မြတ်ဆုံး အမည်၊ ကိယာမတ်နေ့ စသည်များကိုလည်း ဖုံးကွယ်ထားတော်မူသည်။ ယင်းသို့ ဖုံးကွယ်ထားတော်မူခြင်းမှာ လူသားတို့သည် ပိုမို၍ တရားအားထုတ်ကြရန်ပင်ဖြစ်သည်။ အကယ်၍သာ ထူးကဲမြင့်မြတ်သောအချိန်၊ နေ့၊ ရက်များကို အတိအကျသိရှိနေပါက လူများသည် ထိုနေ့ရက်များတွင် ပိုမို၍ တရားအားထုတ်ကြပြီး ကျန်နေ့၊ ရက်များတွင် ပေါ့လျော့သွားကြပေမည်။

## ⓪ ကဒ်ရ်ညဉ့်သည် လပေါင်း၁၀၀၀ ထက်မြတ်သည်။

ကဒ်ရ်ညဉ့်သည် အလွန်ထူးကဲမြင့်မြတ်သော ညဉ့်ဖြစ်ပေရာ၊ ထိုညဉ့်တွင် ကောင်းမှုကုသိုလ်ပြုလုပ်ခြင်းသည် အခြားအချိန်များတွင် လပေါင်း ၁၀၀၀ ကောင်းမှုကုသိုလ်ပြုခြင်းထက်ပင် သာပေသည်။

သာဝကကြီး ဣဗ်နုအဗ္ဗာစ်က ပြောပြခဲ့သည်မှာ အစ္စရာအီလီမျိုးနွယ်ဝင်တစ်ဦးသည် အလ္လာဟ်အရှင်မြတ်၏လမ်းတော်၌ လပေါင်း ၁၀၀၀ တိုင်တိုင် အလ္လာဟ်အရှင်မြတ်၏ လမ်းတော်၌ မိမိပခုံးထက်ဝယ် လက်နက်ထမ်းလျက် နေခဲ့သည့်အကြောင်း တမန်တော်မြတ်၏ ရှေ့မှောက်တွင် ပြောပြရာ တမန်တော်မြတ်သည် အံ့သြသွားတော်မူခဲ့၏။ ထို့နောက် တမန်တော်မြတ်သည် မိမိ၏ နောက်လိုက်များအဖို့ ထိုသို့ပြုစွမ်းနိုင်ရန် ဆန္ဒပြင်းပြကာ အလ္လာဟ်အရှင်မြတ်ထံတော်၌ "အို-အရှင်၊ အရှင်မြတ်သည် ကျွန်တော်မျိုး၏ နောက်လိုက်များအား အခြားနောက်လိုက်များထက် အသက်လည်း တိုစေတော်မူပါသည်။ အကျင့်အမူလည်း နည်းစေတော်မူပါသည်" ဟု လျှောက်ထားရာ အလ္လာဟ်အရှင်မြတ်က တမန်တော်မြတ်အား ကဒ်ရ်ညဉ့်ကို ချီးမြှင့်တော်မူ၍ "ကဒ်ရ်ညဉ့်သည် ကိယာမတ်တိုင် အသင့်အဖို့လည်းကောင်း၊ အသင်၏ နောက်လိုက်များအဖို့လည်းကောင်း၊ ➤➤

تَنَزَّلُ الْمَلَٰٓئِكَةُ وَالرُّوحُ فِيهَا بِإِذْنِ رَبِّهِم مِّن كُلِّ أَمْرٍ ﴿٤﴾

၄။ ထိုညဉ့်၌ ကောင်းကင်တမန်များသည်လည်းကောင်း၊ ဂျစ်ဗ်ရိလ်သည်လည်းကောင်း၊ မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ် အမိန့်တော်ဖြင့် ကောင်းမြတ်သောအရေးကိစ္စအသီးသီးကို ယူဆောင်၍ ဆင်းသက်လာကြကုန်၏။

سَلَٰمٌ هِىَ حَتَّىٰ مَطْلَعِ الْفَجْرِ ﴿٥﴾

၅။ ထိုညဉ့်ကား နံနက်မိုးသောက်ချိန်တိုင် ငြိမ်းချမ်းသောညဉ့်ပင် ဖြစ်ချေသတည်း။ (ငြိမ်းချမ်းမှုချည်းသာတည်း)။ [၁]

---

⮞⮞ ငါအရှင်မြတ်၏လမ်းတော်၌ အစ္စရာအီလီမျိုးနွယ်ဝင် လက်နက် ဆွဲထိုင်နေခဲ့သော လပေါင်း ၁၀၀၀ထက် သာသည်ဟု မိန့်ကြားတော်မူလိုက်လေသည်။ ခါဇင်န်၊ အစောင်-၇။ စာမျက်နှာ ၂၂၉။

**မှတ်ချက်။** အချို့က ဤအာယတ်တော်တွင် လာရှိသည့် လပေါင်း ၁၀၀၀ ဟူသည် မုချအားဖြင့် အမှန်တကယ် လပေါင်း ၁၀၀၀ကို ဆိုလိုသည်မဟုတ်။ အရဗီစာပေဝေါဟာရအရ တစ်ထောင် (၁၀၀၀) ဂဏန်းသည် များစွာသော အရေအတွက် အဖို့လည်း အသုံးဖြစ်ချေသည်။ မြန်မာစာပေတွင်လည်း များစွာသော အရေအတွက် ဖော်ပြရာ၌ ထောင်၊ သောင်းဟူသော ဂဏန်းများကို အသုံးပြုကြသည်မှာ အထင်အရှားပင်။

**(၁) ကဒ်ရ်ညဉ့်တွင် သုချမ်းသာအဖြာဖြာ သက်ရောက်ခြင်း။**

ကဒ်ရ်ညဉ့်တွင် ကမ္ဘာသူ ကမ္ဘာသားကို ချမ်းသာသုခအဝဝကို ခံစားနိုင်ကြရန် အလို့ငှာ အလ္လာဟ် အရှင်မြတ်၏ အမိန့်တော်အရ ကောင်းကင်တမန်ကြီး ဂျိဗ်ရီလ်နှင့်တကွ အသင်္ချေအသင်္ချာသော ကောင်းကင်တမန်များသည် မင်္ဂလာရှိသော အရေးကိစ္စအဝဝကို ယူဆောင်၍ ဤကမ္ဘာသို့ ဆင်းသက်လာကြပေသည်။ ဆိုလိုသည်ကား ဤမင်္ဂလာရှိသော ကဒ်ရ်ညဉ့်တွင် နေဝင်ချိန်မှ မိုးသောက်သည် အထိ တစ်ညဉ့်လုံး တစ်စုံတစ်ရာ ဒုက္ခမပါ၊ သုခချမ်းသာ မင်္ဂလာချည်းသာ အထူးတလည် သက်ရောက်သည် ဖြစ်သည်ဟူ၏။

တမန်တော်မြတ်က ဟောကြားတော်မူခဲ့သည်မှာ ကဒ်ရ်ညဉ့်ကျရောက်သည့်အခါ ကောင်းကင်တမန် ဂျိဗ်ရီလ်သည် ကောင်းကင်တမန်များ ခြံရံလျက် ဆင်းသက်လာသည်။ သို့ ဆင်းသက်လာပြီး ကောင်းကင်တမန်များသည် အလ္လာဟ်အရှင်မြတ်အား ထလျက်၊ ထိုင်လျက်၊ အောက်မေ့တသ သတိရရှိနေကြကုန်သောသူ အပေါင်းတို့အပေါ်သို့ မေတ္တာပို့သကြကုန်သည်။ ၎င်းတို့အဖို့ အန္တရာယ်ကင်းရန် ဆုပန်ကြကုန်သည်။ (ခါဇင်န်)

**"အလ်ရူဟ်"**

ဤအာယတ်တော်တွင် လာရှိသော "အလ်ရူဟ်"ကို အနက်ဖွင့်ရာတွင် မုဖတ်စ်စိရ်များသည် အမျိုးမျိုး အဆိုကွဲပြားနေကြသည်ကို တွေ့ရှိရသည်။ ဤအာယတ်တော်တွင် လာရှိသော အလ်ရူဟ်"သည် ကောင်းကင်တမန် ဂျိဗ်ရီလ်ကိုပင်ဆိုလိုသည်။ ဤကား မုဖတ်စ်စိရ် အများစုကြီး၏ ယူဆချက်ပင်။

**ထူးသည့်ဆုမွန်။**

အာအိရှဟ်သခင်မထံမှာ တစ်ဆင့်ကြားသိရ၏။ ထိုသခင်မကြီးက ပြောပြခဲ့သည်မှာ 'ကျွန်မက အလ္လာဟ်အရှင်မြတ်၏တမန်တော်၊ အကယ်၍ အဘယ်ညဉ့်သည် ကဒ်ရ်ညဉ့်ဖြစ်သည်ကို ကျွန်မသိရှိရပါသော်⮞⮞

## ထင်ရှားသောသာဓက ကဏ္ဍ




ဤကဏ္ဍသည် "အလ်ဗိုင်ယိနဟ်" ထင်ရှားသော သက်သေသာဓက ကဏ္ဍမည်၏။ မဒီနာမြို့တော်တွင် ကျရောက်ခဲ့၏။ ဤကဏ္ဍတွင် အာယတ်တော် (၈)ပါး ပါရှိ၏။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ

မပြတ်မစဲ သနားကြင်နာ ညှာတာတော်မူသော၊ အနန္တကရုဏာတော်ရှင် ဖြစ်တော်မူသော အလ္လာဟ်အရှင်မြတ်၏နာမံတော်ဖြင့် အစပြုပါ၏။

لَمْ يَكُنِ الَّذِيْنَ كَفَرُوْا مِنْ اَهْلِ الْكِتٰبِ وَالْمُشْرِكِيْنَ مُنْفَكِّيْنَ حَتّٰى تَاْتِيَهُمُ الْبَيِّنَةُ ﴿١﴾

၁။ ရှေးအထက်ကျမ်းဂန်ကို ရရှိခဲ့ကြသောသူတို့ အနက်မှလည်းကောင်း၊ "မွရှ်ရစ်ကီ" တစ်စုံတစ်ရာကို အလ္လာဟ်အရှင်မြတ်နှင့် တွဲဖက် ကိုးကွယ်ကြသူတို့ အနက်မှလည်းကောင်း၊ သွေဖည် ငြင်းပယ်သောသူတို့မှာမူကား၊ ၎င်းတို့ထံ ထင်ရှားစွာသော သက်သေသာဓက ရောက်ရှိလာခြင်းမရှိသမျှ ကာလပတ်လုံး (မိမိတို့၏ မမှန်ကန်သောအယူဝါဒမှ) စွန့်ခွာကြမည့် သူများ မဟုတ်ခဲ့ကြပေ။

رَسُوْلٌ مِّنَ اللّٰهِ يَتْلُوْا صُحُفًا مُّطَهَّرَةً ﴿٢﴾

၂။ (ထိုထင်ရှားစွာသော သက်သေသာဓကမှာ ၎င်းတို့ရှေ့ဝယ်) သန့်ရှင်းသော ကျမ်းစာများကို ဖတ်ကြားအံ့သော အလ္လာဟ်အရှင်မြတ်၏ရစူလ်တမန်တော်တစ်ပါးပင်။

فِيْهَا كُتُبٌ قَيِّمَةٌ ﴿٣﴾

၃။ ယင်းကျမ်းစာများမှာ မှန်ကန်သောအကြောင်းအရာများရေးသားပါရှိသောကျမ်းစာများပင်ဖြစ်သည်။

---

➤➤ ထိုညဥ့်မြတ်တွင် ကျွန်ုပ်မည်သို့ ဆုပန်ရပါမည်နည်းဟု လျှောက်ထားရာ တမန်တော်မြတ်က အောက်ပါအတိုင်း ဆုပန်ကြားရန် မိန့်ကြားတော်မူခဲ့လေသည်။

اَللّٰهُمَّ اِنَّكَ عَفُوٌّ تُحِبُّ الْعَفْوَ فَاعْفُ عَنِّى

"အို-အလ္လာဟ်၊ အရှင်မြတ်သည် ခွင့်လွှတ်တော်မူသောအရှင် အမှန်ပင် ဖြစ်တော်မူပါသည်။၊ အရှင်မြတ်သည် ခွင့်လွှတ်မှုကိုလည်း နှစ်သက်တော်မူပါသည်။ သို့ဖြစ်ရာ ကျွန်တော်မျိုးအား ခွင့်လွှတ်တော်မူပါ"။ (အီဗ်နုကဆီရ်)။

وَمَا تَفَرَّقَ الَّذِينَ أُوتُوا الْكِتٰبَ إِلَّا مِنۢ بَعْدِ مَا جَآءَتْهُمُ الْبَيِّنَةُ ﴿٤﴾

၄။ သို့ရာတွင် ရှေးအထက်ကျမ်းဂန်ကို ချီးမြှင့်ပေးသနားတော်မူခြင်း ခံခဲ့ကြရသောသူတို့မှာ ၎င်းတို့ထံ ထင်ရှားစွာ သက်သေသာဓကေ ရောက်ရှိလာပြီးနောက်သော်မှပင် (သာသနာတော်နှင့်စပ်လျဉ်း၍) ကွဲလွဲခဲ့ကြကုန်လေသည်။ [၁]

---

(၁) တမန်တော်မြတ် မပွင့်မီအလျင် ယဟူဒီ၊ နဆွာရာနီ၊မုရှ်ရစ်က် စသည့်ဘာသာဝင်အသီးသီးတို့မှာ အပျက်ကြီးပျက်စီးနေခဲ့ကြလေပြီ။ မိမိတို့၏အမှားကို အမှားဟူ၍ မထင်မှတ်ကြတော့သည်သာမက မိမိတို့၏အမှားကိုပင် အမှန်ထင်ကာ မောက်မာပလွှားဝါကြွားလျက် ရှိခဲ့ကြပေသည်။ ထိုမျှ အလွန်အကျွံ လွဲမှားနေသူများအား သာမန်ပညာရှင်တစ်ဦး၊ သို့မဟုတ် သူတော်စင်တစ်ဦး၊ သို့မဟုတ် မျှတသော ဘုရင်တစ်ပါးက သွန်သင်ဆုံးမလမ်းညွှန်ပြပါကလည်း ၎င်းတို့သည် တရားရရှိ ကြမည် မဟုတ်ပေ။ ထိုရွေ့ထိုမျှ အလွန်အကျွံလွဲမှားနေသူများအား သွန်သင်ဆုံးမလမ်းညွှန်ပြနိုင်မည့် ပုဂ္ဂိုလ်မှာကား အလ္လာဟ်အရှင်မြတ်ထံတော်မှ အလွန်တန်ခိုးတော်နှင့် ပြည့်စုံသော ကျမ်းထူးကျမ်းမြတ်ရ တမန်တော်တစ်ပါးသာလျှင် ဖြစ်နိုင်ပေသည်။ ထိုသို့သော တမန်တော်တစ်ပါးသာလျှင် ၎င်းတို့၏ မိစ္ဆာမှောင်များကို ဖြိုခွင်း၍ မှန်ကန်သော တရားအလင်းသို့ ဆောင်နိုင်ပေမည်။ နောက်ဆုံးတွင် ထိုသို့သော တမန်တော်မြတ်သည် အလ္လာဟ်အရှင်မြတ် ထံတော်မှ ကျမ်းဂန်တို့၏ အချုပ်ကို ယူဆောင်ကာ ၎င်းတို့ထံသို့ ရောက်ရှိ လာခဲ့လေသည်။ (ထိုတမန်တော်ကား အခြားမဟုတ်၊ တမန်တော်မြတ် မုဟမ္မဒ် “ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်” ပင်တည်း။ ထိုကျမ်းတော်ကားအခြားမဟုတ်၊ ကုရ်အာန်ကျမ်းမြတ်ပင်တည်း)။

ထိုသို့သော တမန်တော်ပွင့်လာသည့်အခါ၊ ၎င်းတို့သည် ထိုတမန်တော်မြတ်အား ကြည်ဖြူစွာ နာခံကြရန်သာရှိပေသည်။ သို့ပါသော်လည်း အဟ်လုလ်ကိတာပ်ဖြစ်သော ယဟူဒီနှင့် နဆွာရာနီများအနက် အချို့မှာ ထိုတမန်တော်မြတ်အား မယုံကြည်၍ မဟုတ်၊ မနာလိုမုန်းတီးမှုကြောင့် သွေဖည်ဆန့်ကျင်ခဲ့ကြပေသည်။ အချို့မှာမူ မျှတစွာ စဉ်းစားဆင်ခြင်၍ အမှန်ကိုမြင်ကာ ထိုတမန်တော်အား ယုံကြည်လာခဲ့ကြပေသည်။ ဤသို့ဖြင့် ၎င်းတို့တွင် အုပ်စု ၂-ခုဖြစ်သွားခဲ့ပေသည်။

အမှန်မှာ အဟ်လုလ်ကိတာဗ်သည် နောက်ဆုံးပွင့်တော်မူမည့် တမန်တော်မြတ်ကို အမြော်ကြီးမျှော်၍ နေခဲ့ကြ၏။ တမန်တော်မြတ်အား အကြောင်းပြု၍ ဂုဏ်ယူကြွားဝါ၍ပင် နေခဲ့ကြ၏။ သို့ဖြစ်ရာ ၎င်းတို့သည် ထိုတမန်တော်မြတ် ပွင့်လာသည့်အခါ ဝမ်းသာအားရ သောင်းသောင်းဖြဖြ ယုံကြည်မြတ်နိုးကြရန်သာ ရှိပေသည်။ ထို့ပြင်တစ်ဝ ယခင်က မိမိတို့၌ရှိနေခဲ့သော သဘောကွဲလွဲမှုအရပ်ရပ်ကို ရပ်စဲလိုက်ပြီး၊ မှန်ကန်သော တစ်ခုတည်းသော တရားလမ်းစဉ်ကိုသာ တညီတညွတ်တည်း လက်ခံနာယူ ကျင့်မူ သင့်ကြပေသည်။ သို့တစေလည်း ၎င်းတို့သည် ၎င်းတို့၏ အကြောင်းမလှမှု၊ မလိုမုန်းတီးမှုများကြောင့် ညီညွတ်ကြရမည့်အစား ကွဲသည်ထက် ကွဲခဲ့ကြလေသည်။ အတိုင်းမသိ ကြီးမားလှဘိသော မင်္ဂလာသည် ၎င်းတို့အဖို့ အမင်္ဂလာဖြစ်သွားခဲ့ရလေသည်။ ဤကား မည်သူမပြုမိမိမှုပင်။

အတိတ်ခေတ်ရှိ ကျမ်းဂန်ရ ရဟူဒီ နဆွာရာနီများသည်ပင် ထိုသို့ အမှောက်မှောက် အမှားမှား ဖြစ်ခဲ့ကြလျှင် ကျမ်းဂန်မရရှိသော မုရှ်ရစ်က်များကား အသို့ဖြစ်ကြမည်ကို အထူးရေးရန်ပင် မလိုပေ။

وَمَآ أُمِرُوٓا۟ إِلَّا لِيَعْبُدُوا۟ ٱللَّهَ مُخْلِصِينَ لَهُ ٱلدِّينَ حُنَفَآءَ وَيُقِيمُوا۟ ٱلصَّلَوٰةَ وَيُؤْتُوا۟ ٱلزَّكَوٰةَ ۚ وَذَٰلِكَ دِينُ ٱلْقَيِّمَةِ ⑤

၅။ စင်စစ်သော်ကား ထိုသူတို့သည် ဆည်းကပ်ကိုးကွယ်မှုကို အလ္လာဟ်အရှင်မြတ်အားသာလျှင် ရည်စူး၍ သန့်သန့်ပြုကြလျက် (မမှန်ကန်သော ဘာသာဝါဒအသီးသီးတို့ကို နဗီတမန်တော်အီဗ်ရာဟီမ်နည်းတူ စွန့်ကာ အလ္လာဟ်အရှင်မြတ်ဖက်သို့သာလျှင်) အာရုံစူးစိုက်ကြလျက် ထိုအရှင်မြတ်အား ကိုးကွယ်ဆည်းကပ်ကြရန်လည်းကောင်း၊ ဆွလာတ်ဝတ်ပြုမှုကို ဆောက်တည်ကြရန်လည်းကောင်း၊ ဇကာတ်ပေးဆောင်ကြရန်လည်းကောင်း၊ အမိန့်ပေးတော်မူခြင်းကို ခံခဲ့ကြရသည်မှတစ်ပါး အခြားတစ်စုံတစ်ရာကိုမျှ အမိန့်ပေးတော်မူခြင်း ခံခဲ့ကြရသည်မဟုတ်ပေ။ အမှန်သော်ကား ဤသည်သာလျှင် မှန်ကန်သူတို့၏လမ်းစဉ်တည်း။ (မှန်ကန်သောအကြောင်းများ၏ လမ်းစဉ်ပင်၊ တရားပင်၊ သာသနာပင်)။ [၁]

(၁) ကုရ်အာန်ကျမ်းလာ တရားတော်များသည် အဆိုပါ အဟ်လုလ်ကိတာဗ်နှင့် မုရှ်ရစ်က်များအဖို့ အထူးအဆန်းမဟုတ်ပေ။ အဘယ်ကြောင့်ဆိုသော် အလ္လာဟ်အရှင်မြတ်အား စေတနာသဒ္ဓါတရား ကြည်ဖြူစွာဖြင့် ခဝပ်ကိုးကွယ်ကြရမည့်အကြောင်း၊ မိစ္ဆာအမှုအစုစုကို ဖဲကြဉ်ရှောင်ရှား၍ အမှန်တရားအပေါ်၌ ဖြောင့်မတ်စွာ ရပ်တည်ကြရမည့်အကြောင်း၊ ဆွလာတ်ဝတ်ပြုကြရမည့်အကြောင်း၊ ဇကာတ် ပေးကြရမည့်အကြောင်းများသည် မဆွတ အဟ်လုလ်ကိတာဗ် ရရှိထားခဲ့ကြသော ကျမ်းများတွင်ပင် ပါရှိပြီးဖြစ်နေပေသည်။ ကုရ်အာန် ကျမ်းမြတ်၏ အမိန့်ပညတ်များမှာလည်း ၎င်းတို့၏ ကျမ်းလာ အမိန့်ပညတ်အတိုင်းပင် ဖြစ်ပေသည်။ ဤသည့် အမိန့်ပညတ်များသည် ဖြောင့်မတ်မှန်ကန်သော ဘာသာတိုင်း၏ အဓိကတရားပင်။ ကြည့်-ကုရ်အာန်(၅း၁၂-၁၉)။ သို့ဖြစ်ရာ ကုရ်အာန်ကျမ်းလာ အမိန့်ပညတ်များကို မနာခံခြင်းသည် အမှန်မှာ မိမိတို့၏ကျမ်းလာ အမိန့်ပညတ်များကို မိမိတို့ကိုယ်တိုင် သွေဖည်ငြင်းဆန် မနာခံခြင်း ပင်ဖြစ်သည်။

မုရှ်ရစ်က်များ၌ ကျမ်းဂန်မရှိ၊ ၎င်းတို့သည် အတိတ်ခေတ် ကျမ်းဂန်များကိုလည်း မနာခံခဲ့ကြပေ။ သို့တစေလည်း ၎င်းတို့သည် တမန်တော် အီဗ်ရာဟီမ်အား ယုံကြည်မြတ်နိုးခဲ့ကြသည်။ တမန်တော်အီဗ်ရာဟီမ်သည် ကုဖ်ရ်၊ ရှိရ်က်၊ မိစ္ဆာမှုအစုစုကို ဝေးစွာ ကြဉ်ရှောင်၍ အမှန်တရားအပေါ်၌ သူမတူအောင် ဖြောင့်မတ်စွာ ရပ်တည်နေခဲ့သည်ကိုလည်း နားလည်သဘောပေါက်ခဲ့ကြသည်။ တမန်တော်အီဗ်ရာဟီမ်၏ နောက်လိုက်တပည့်သားများ ဖြစ်ကြရသည်ကိုလည်း ဂုဏ်ယူခဲ့ကြသည်။ ကုရ်အာန်ကျမ်းမြတ်သည်လည်း တမန်တော်အီဗ်ရာဟီမ်၏ အကျင့်သိက္ခာများကိုပင် ရည်ညွှန်းမိန့်ဆိုထားသည်။ တမန်တော်အီဗ်ရာဟီမ်၏ လမ်းစဉ်နှင့် ကုရ်အာန်သည် တထေရာတည်း ဖြစ်ချေသည်။ သို့ပါလျက် ကုရ်အာန်ကို မနာခံခြင်းသည် မိမိတို့ကိုယ်တိုင် ယုံကြည်လက်ခံထားသော ယုံကြည်ချက်ကို သွေဖည်ငြင်းဆန် မနာခံရာမည်သည်။

إِنَّ الَّذِينَ كَفَرُوا مِنْ أَهْلِ الْكِتَابِ وَالْمُشْرِكِينَ فِي نَارِ جَهَنَّمَ خَالِدِينَ فِيهَا أُولَٰئِكَ هُمْ شَرُّ الْبَرِيَّةِ ﴿٦﴾

၆။ ရှေးအထက်ကျမ်းဂန် ရရှိသူတို့အနက်မှလည်းကောင်း၊ "မွရှ်ရစ်က်" တစ်စုံတစ်ရာကို အလ္လာဟ်အရှင်မြတ်နှင့် တွဲဖက် ကိုးကွယ်သူတို့အနက်မှလည်းကောင်း၊ သွေဖည် ငြင်းပယ်ခဲ့ကြကုန်သောသူတို့မှာ ဧကန်အမှန် ဂျဟန္နမ်ငရဲ၏ မီးထဲသို့ အမြဲထာဝစဉ် နေထိုင် ခံစားကြရသူများအဖြစ် လားကြရပေမည်။ ထိုသူတို့ကား အဖန်ဆင်းခံတို့တွင် အဆိုးဆုံးသောသူများပင် ဖြစ်ကြကုန်၏။

إِنَّ الَّذِينَ آمَنُوا وَعَمِلُوا الصَّالِحَاتِ أُولَٰئِكَ هُمْ خَيْرُ الْبَرِيَّةِ ﴿٧﴾

၇။ "အီမာန်" သက်ဝင်ယုံကြည်၍ ကောင်းမြတ်သော အကျင့်သီလများကို ကျင့်မှုဆောက်တည်ခဲ့ကြကုန်သောသူတို့မှာမူကား ဧကန်မလွဲ အဖန်ဆင်းခံတို့တွင် အကောင်းဆုံးသောသူများပင် ဖြစ်ကြကုန်၏။

جَزَاؤُهُمْ عِندَ رَبِّهِمْ جَنَّاتُ عَدْنٍ تَجْرِي مِن تَحْتِهَا الْأَنْهَارُ خَالِدِينَ فِيهَا أَبَدًا ۖ رَّضِيَ اللَّهُ عَنْهُمْ وَرَضُوا عَنْهُ ۚ ذَٰلِكَ لِمَنْ خَشِيَ رَبَّهُ ﴿٨﴾

၈။ ၎င်းတို့၏အကျိုးကား ၎င်းတို့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်ထံတော်၌ ထာဝစဉ် နေထိုင်ကြရမည့် ဥယျာဉ်များပင် ဖြစ်ကြကုန်၏။ ထိုဥယျာဉ်များ၏အောက်မှ ရေချောင်းများသည် တသွင်သွင် စီးတွေလျက် ရှိကြပေမည်။ (၎င်းတို့သည်) ထိုဥယျာဉ်များတွင် အမြဲထာဝစဉ် နေထိုင်စံမြန်းကြရပေမည်။ အလ္လာဟ်အရှင်မြတ်သည်လည်း ၎င်းတို့အပေါ်၌ ကျေနပ်တော်မူမည်။ ၎င်းတို့သည်လည်း ထိုအရှင်မြတ်အပေါ်၌ ကျေနပ်ကြပေမည်။ ဤ(အကျိုးကျေးဇူး)သည်ကား မိမိအား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်ကို ကြောက်ရွံ့သော(သူတော်စင်)၏အဖို့ သာလျှင် ဖြစ်အံ့သတည်း။ ၁

---

① **အကောင်းဆုံးအုပ်စုနှင့် အဆိုးဆုံးအုပ်စု။**

အဟ်လုလ်ကိတာဗ်ခေါ် ကျမ်းဂန်ရရှိသူများပင် ဖြစ်စေ၊ မုရှ်ရစ်က်များပင်ဖြစ်စေ၊ အသူပင်ဖြစ်စေ၊ အမှန်တရားကို သွေဖည်ငြင်းဆန် မနာခံပါက အလ္လာဟ်အရှင်မြတ်အား ကျေးဇူးကန်းပါက ထိုသို့သောသူများသည် ထာဝရငရဲဘုံသို့ လားကြရမည်သာဖြစ်သည်။ ဤသူများကား ကမ္ဘာ့အိမ်ထောင်စုတွင် အဆိုးဆုံးပင်။ ➤➤

# မြေငလျင်ကဏ္ဍ

سُورَةُ الزَّلْزَلَةِ

ဤကဏ္ဍသည် မြေငလျင်အကြောင်း ပါဝင်သောကဏ္ဍမည်၏။ မဒီနာမြို့၌ ကျရောက်ခဲ့၏။
ဤကဏ္ဍသည် အာယတ်တော် (၈)ပါး ပါရှိ၏။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ

မပြတ်မစဲ သနားကြင်နာ ညှာတာတော်မူသော၊
မဟာကရုဏာတော်ရှင် ဖြစ်တော်မူသော
အလ္လာဟ်အရှင်မြတ်၏နာမံတော်ဖြင့် အစပြုပါ၏။

إِذَا زُلْزِلَتِ الْأَرْضُ زِلْزَالَهَا ①

၁။ ပထဝီမြေသည် မိမိ ငလျင်လှုပ်ခြင်း၊ မိမိ သွက်သွက်ခါ တုန်လှုပ်ခြင်းဖြင့် တုန်လှုပ်ခြင်းကို ခံရလေသောအခါ။ [၁]

وَأَخْرَجَتِ الْأَرْضُ أَثْقَالَهَا ②

၂။ ၎င်းပြင် ပထဝီမြေသည် မိမိ(အတွင်းရှိ သေသူများ၊ ရွှေငွေရတနာအစရှိသော) ဝန်ထုပ်များကို အပြင်သို့ ထုတ်သောအခါ။ [၂]

---

➤➤ အလ္လာဟ်အရှင်မြတ်အား ယုံကြည်မြတ်နိုး၍ ကောင်းမြတ်သော အကျင့်သီလများကို ဆောက်တည်သူများသည် အသူပင်ဖြစ်စေ၊ ဂျန္နတ်ထာဝရ သုခဘုံသို့ ဝင်ရောက်၍ ထာဝစဉ် စံမြန်းကြရမည်သာဖြစ်သည်။ ဤသူများကား ကမ္ဘာအိမ်ထောင်စုတွင် အကောင်းဆုံးပင်။

ဤမျှ ကြီးကဲမြင့်မြတ်လှသော အဆင့်အတန်းကို မိမိအရှင်အား ကြောက်ရွံ့ရိုသေ ခန့်ညားသောသူတော်စင်များသာလျှင် ရရှိနိုင်ကြပေသတည်း။ အဘယ်ကြောင့်ဆိုသော် (အီမာန်)ယုံကြည်မှုနှင့် (အမလ်ဆွာလိဟ်) ကောင်းမြတ်သော အကျင့်သီလဆောက်တည်မှုသည် ထိုသည့် ကြောက်ရွံ့ရိုသေခန့်ညားမှု အပေါ်၌သာ တည်ရှိနေပေသည်။ ကြည့်-ထာနဝီ။

(၁) **ကိယာမတ်ဖြစ်သောအခါ။**

ကိယာမတ်ဖြစ်ရန် အချိန်တန်သောအခါ အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်ဖြင့် ပထဝီမြေကြီးသည် ကြောက်မက်ဖွယ်ရာ ပြင်းထန်စွာ မြေငလျင်လှုပ်ပေမည်။ထိုမြေငလျင်၏ ပြင်းထန်မှုကြောင့် မြေမျက်နှာပြင်ပေါ်ရှိ အရာခပ်သိမ်းကုန်တို့သည် ပြိုလဲပျက်စီး သွားပေမည်။ သစ်ပင်တစ်ပင်မျှ၊ အဆောက်အဦးတစ်ခုမျှ၊ တောင်တစ်လုံးမျှပင် ရပ်တည်ကာ ကျန်ရှိနေနိုင်မည် မဟုတ်ပေ။မြေမျက်နှာပြင် ပေါ်၌ အနိမ့်အမြင့်ဟူ၍ တစ်စုံတစ်ရာမျှလည်း ကျန်ရှိတော့မည်မဟုတ်ပေ။ အားလုံးတစ်သားတည်း ဖြစ်သွားပေမည်။ "မဟ်ရှရ်" ကမ္ဘာသူ၊ ကမ္ဘာသားအားလုံးတို့ စုရုံးရာ ကွင်းပြင်ကြီးကား ရေပြင်အလား တစ်သားတည်း ဖြစ်လျက်ရှိချိမ့်မည်။ (ဤသို့ကား ကိယာမတ်နေ့ ဒုတိယအကြိမ် တံပိုးမှုတ်သည့်အခါ ဖြစ်ပေါ်လာပေမည်)။

وَقَالَ الْإِنْسَانُ مَا لَهَا ۝٣

၃။ ထို့ပြင် လူက ဤပထဝီမြေ၌ (ယင်းကဲ့သို့ တုန်လှုပ်ရန်) မည်သည့်အကြောင်း ရှိသနည်းဟု ပြောဆိုသောအခါ။ [၁]

يَوْمَئِذٍ تُحَدِّثُ أَخْبَارَهَا ۝٤

၄။ ထိုနေ့တွင် ယင်းပထဝီမြေသည် မိမိသတင်း စကားများကို ပြောပြပေမည်။ [၂]

بِأَنَّ رَبَّكَ أَوْحَىٰ لَهَا ۝٥

၅။ အကြောင်းသော်ကား အသင့်အား ဖန်ဆင်း မွေးမြူတော်မူသောအရှင်မြတ်သည် ၎င်းအား (ယင်း သို့ပင်) အမိန့်ထုတ်ပြန်တော်မူခြင်းကြောင့် ဖြစ်အံ့။

يَوْمَئِذٍ يَصْدُرُ النَّاسُ أَشْتَاتًا لِيُرَوْا أَعْمَالَهُمْ ۝٦

၆။ ထိုနေ့တွင် လူတို့သည် အုပ်စုအမျိုးမျိုး ကွဲလျက် မိမိတို့ကျင့်မူချက်တို့ကို ပြသခြင်း ခံကြရအံ့ သောငှာ ပြန်လာကြပေမည်။ [၃] (ထွက်ပေါ်လာကြ ပေမည်)။

---

(၂) ကိယာမတ်နေ့တွင် ပထဝီမြေကြီးသည် မိမိ၏ဝန်ထုပ်များကို (ဝါ) မိမိအတွင်းရှိ သူသေများ၊ ရွှေငွေစသည့် ရတနာများကို အပြင်သို့အန်ထုတ်ပေမည်။ သို့ရာတွင် ထိုအချိန်တွင် ထိုသည့် ရတနာများကို မော်ကြည့်နိုင်မည့်သူ ဟူ၍ကား တစ်ဦးတစ်ယောက်မျှပင် တွေ့ရှိရမည်မဟုတ်ပေ။ လူ့လောကတွင် ရှိစဉ်က လူသားတို့သည် အသက်ထက်ဆုံး အချင်းချင်း အငြင်းပွားခဲ့ရသော ရွှေငွေ များသည် ယနေ့အဖို့ အချည်းနှီးဖြစ်လျက်ရှိချိမ့်မည်။

(၁) ကိယာမတ်ကို မယုံကြည်ခဲ့သော လူသား (ကာဖိရ်)သည် ကိယာမတ်နေ့တွင် ပထဝီမြေကြီးအလှုပ်ကြီးလှုပ်၍ မိမိအတွင်းရှိ သူသေများနှင့် ရွှေငွေရတနာစသည်တို့ကို တစ်ခုမကျန် အန်ထုတ်သည်ကို တွေ့မြင်သောအခါ၊ အံ့သြကြီးစွာဖြင့် ဤပထဝီမြေကြီးအသို့ ဖြစ်ပါသနည်း ဟုပြောဆိုပေမည်။

(၂) လူသားတို့သည် ပထဝီမြေကြီးပေါ်၌ နေထိုင်ကြသည်။ ကုသိုလ်၊ အကုသိုလ်၊ ကောင်းမှု၊ မကောင်းမှု အစုစုတို့ကိုလည်း ကျင့်မူကြသည်။ ဤသည်တို့ကို ပထဝီမြေကြီးသည် ခြေရာလက်ရာမပျက် မှတ်သားထားသည်။ ယခုခေတ်စကားအရ Record, လုပ်ထားသည်။ ကိယာမတ်နေ့တွင် ပထဝီမြေကြီးသည် မိမိ Record, ပြုလုပ်ထားသည်များကို ပြန်လည်ဖွင့်ပြပေမည်။

လူသားတို့နေထိုင်ရာ ဤပထဝီမြေကြီးသည် လူသားတို့သွားလာလှုပ်ရှားပြောဆိုကျင့်မူသည်များကို Record, လုပ်နေသည်။ Record, ဖြစ်လျက်ရှိပေရာ၊ လူသားတို့အဖို့ လူမမြင်၊ သူမမြင် ပုန်းကွယ်ရာနေရာ ဟူသည်ကား အဘယ်မှာရှိတော့အံ့နည်း။ ဤသို့ သဘောပေါက်ထားသော မွတ်စ်လင်မ် တစ်ဦးသည် မကောင်းမှုကို အသို့လျှင် ပြုတော့အံ့နည်း။

فَمَنْ يَّعْمَلْ مِثْقَالَ ذَرَّةٍ خَيْرًا يَّرَهٗ ۝٧

၇။ သို့ဖြစ်ပေရာ မည်သူမဆို တစ်စုံတစ်ရာ ကောင်းမှုကို အဏုမြူခန့်မျှပင် ပြုမူခဲ့သည်ရှိသော် ထိုသူသည် (မိမိကျင့်မူခဲ့သော) ထိုကောင်းမှုကို တွေ့မြင်ရပေမည်။

وَمَنْ يَّعْمَلْ مِثْقَالَ ذَرَّةٍ شَرًّا يَّرَهٗ ۝٨

၈။ ထိုနည်းတူစွာ မည်သူမဆို တစ်စုံတစ်ရာ မကောင်းမှုကို အဏုမြူခန့်မျှပင် ပြုမူခဲ့ပါလျှင်လည်း ထိုသူသည် (မိမိပြုကျင့်ခဲ့သော) ယင်းမကောင်းမှုကို တွေ့မြင်ရမည်သာတည်း။

---

၃ ကိယာမတ်နေ့တွင် လူများသည် မိမိတို့၏အကျင့်အမူများ၏ ကျိုးပြစ်များကို မျက်ဝါးထင်ထင် တွေ့မြင်ကြရန် အတွက် မိမိတို့၏သင်္ချိုင်းများမှထွက်၍ အဆင့်အတန်း တူရာတူရာအုပ်စု အသီးသီးဖြစ်ကာ "မဟ်ရှရ်" ကွင်းပြင်ကြီးသို့ ရောက်ရှိလာကြပေမည်။

လူ့လောကတွင် လူသားတို့သည် "ချိုးကုပ်ရှိရာ-ချိုးကုပ်လာ" ဆိုသကဲ့သို့ အရက်သမားထံ အရက်သမား လာသည်။ ဘိန်းစားထံ ဘိန်းစားလာသည်။ သူတော်ကောင်း၏အဆွေမှာ သူတော်ကောင်းပင်ဖြစ်သည်။ သူယုတ်မာ၏ အပေါင်းအဖော်မှာ သူယုတ်မာပင်ဖြစ်သည်။ ထို့အတူပင် ကိယာမတ်နေ့တွင်လည်း လူသားတို့သည် အကျင့်အကြံ အပြုအမူ တူရာတူရာ အုပ်စုအသီးသီးဖြစ်ကာ ကိုယ့်အုပ်စုနှင့်ကိုယ် ရှိကြပေမည်။

# အာဇာနည်မြင်းများကဏ္ဍ



ဤကဏ္ဍသည် (အလ်အာဒိယာတ်) အာဇာနည်မြင်းများ အကြောင်းပါဝင်သော ကဏ္ဍမည်၏။ မက္ကာမြို့တော်၌ ကျရောက်ခဲ့၏။ ဤကဏ္ဍတွင် အာယတ်တော်(၁၁)ပါး ပါရှိ၏။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ

မပြတ်မစဲ သနားကြင်နာ ညှာတာတော်မူသော၊
မဟာကရုဏာတော်ရှင် ဖြစ်တော်မူသော
အလ္လာဟ်အရှင်မြတ်၏နာမံတော်ဖြင့် အစပြုပါ၏။

وَالْعٰدِيٰتِ ضَبْحًا ۝١

၁။ (ငါအရှင်မြတ်သည်) မောဟိုက်သံနှင့်တကွ လျင်မြန်စွာပြေးကြသော တိုက်မြင်းများကို သက်သေထူတော်မူ၏။

فَالْمُوْرِيٰتِ قَدْحًا ۝٢

၂။ တဖန် (ငါအရှင်မြတ်သည် မိမိတို့၏ခွာများဖြင့် ကျောက်ခဲများကို) ရိုက်ခတ်ခြင်းအားဖြင့် မီးပွားများ ထွက်စေကြသောမြင်းများကို သက်သေထူတော်မူ၏။

فَالْمُغِيْرٰتِ صُبْحًا ۝٣

၃။ တဖန် (ငါအရှင်မြတ်သည်) နံနက်မိုးသောက်ချိန်၌ (ရန်သူများအား) ဝင်ရောက် တိုက်ခိုက်ကြသော မြင်းများကို သက်သေထူတော်မူ၏။

فَاَثَرْنَ بِهٖ نَقْعًا ۝٤

၄။ တဖန် (ငါအရှင်မြတ်သည်) ထိုနံနက် မိုးသောက်ချိန်၌ ဖုံများကို ထောင်းထောင်းထစေသော မြင်းများကို သက်သေထူတော်မူ၏။

فَوَسَطْنَ بِهٖ جَمْعًا ۝٥

၅။ တဖန် (ငါအရှင်မြတ်သည် ရန်သူများ၏) အုပ်စုအလယ်သို့ တရှိန်တည်း ထိုးဖောက်ဝင်ရောက်ကြသော မြင်းများကို သက်သေထူတော်မူ၏။ [၁]

(၁) တိုက်မြင်းများသည် ပြေးလွှားရာတွင် အလွန်လျင်မြန်ဖြတ်လတ်ကြသည်။ ပြေးလွှားရာတွင် ခွာနှင့်ကျောက်ခတ်၍ မီးပွားများတဖွားဖွား ထွက်ပေါ်စေကြသည်။ နံနက်ချိန်၌ လူသိရှင်ကြား ရန်သူများအား ဝင်ရောက်တိုက်ခိုက်ကြသည်။ ဖုန်သိပ်၍ နေလေ့ရှိသော ထိုသည့် နံနက်ချိန်မှာပင် ဖုန်တစ်ထောင်းထောင်း ➤➤

إِنَّ الْإِنسَانَ لِرَبِّهِ لَكَنُودٌ ﴿٦﴾

၆။ ဧကန်မလွဲ လူသည် မိမိကို ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်အား ကျေးဇူးကန်းသူဖြစ်၏။

وَإِنَّهُ عَلَىٰ ذَٰلِكَ لَشَهِيدٌ ﴿٧﴾

၇။ ထို့ပြင် ထိုလူသည် ကျေးဇူးကန်းမှုနှင့်စပ်လျဉ်း၍ မိမိကိုယ်တိုင်ပင် သက်သေဖြစ်၏။ ၁

---

>> ထစေကြသည်။ ရန်သူများ၏ အတွင်းသို့ ရဲဝံ့စွာ ထိုးဖောက် ဝင်ရောက်တိုက် ခိုက်ကြသည်။

အရဗ်တို့သည် ညဥ့်အချိန်၌ ရန်သူများအိပ်ပျော်နေစဉ် အမှုမဲ့အမှတ်မဲ့ ပုန်းလျှိုးကွယ်လျှိုး တိုက်ခိုက်ခြင်းသည် သတ္တိကြောင်ရာကျသည်။ နံနက်ချိန် အထင်ခံ အမြင်ခံတိုက်ခိုက်ခြင်းသည်သာ ရဲစွမ်းသတ္တိ မည်သည်ဟု ယူဆခဲ့ကြသည်။ ထို့အတွက် အရဗ်တို့သည် များသောအားဖြင့် ရန်သူများအား နံနက်ချိန်၌ လူသိရှင်ကြား အထင်အရှား တိုက်ခိုက်လေ့ရှိခဲ့ကြသည်။

အချို့မုဖတ်စ်စိရ်များက ဤအာယတ်တော်တွင်ပါရှိသော ဂုဏ်ရည်များသည် အလ္လာဟ်အရှင်မြတ်၏ လမ်းတော်၌ သက်စွန့်ကြိုးပမ်းပါဝင်ဆင်နွှဲသော မြင်းစီးသူရဲ သာသနာ့အာဇာနည် စစ်သည်တော်များကို ဆိုလိုခြင်းဖြစ်သည်ဟု ဆိုကြသည်။ ဤအာယတ်တော်တွင် အလ္လာဟ်အရှင်မြတ်သည် ယင်းသို့ အရည်အသွေးနှင့် ပြည့်စုံသော၊ ရဲရင့်သော၊ လျင်မြတ်ဖြတ်လတ်သော အာဇာနည် တိုက်မြင်းများ၊ သို့မဟုတ် စစ်သည်များကိုပင် သက်သေထူ မိန့်ဆိုထားတော်မူသည်။ ဆိုလိုသည်ကား အလ္လာဟ်အရှင်မြတ်၏လမ်းတော်၌ (ဂျိဟာဒ်)ပြုလုပ်သော (မုဂျာဟိဒ်) သာသနာ့ အာဇာနည်များ၏ သက်စွန့်ကြိုးပမ်းမှုကို ထောက်ရှုပါက သစ္စာရှိသော၊ ကတိတည်သော၊ ကျေးဇူးသိတတ်သော သူများသည် ဤသို့သာဖြစ်ကြသည်ကို ကောင်းစွာ သိရှိရပေသည်။ အကြင်သူတစ်ဦးသည် မိမိအား အလ္လာဟ် အရှင်မြတ် အပ်နှင်းထားတော်မူသော စွမ်းရည်သတ္တိများကို ထိုအရှင်မြတ်၏ လမ်းတော်၌ မသုံးပါက ထိုသူထက် ကျေးဇူးကန်းသူကား အသူရှိနိုင်အံ့နည်း။

ဤတွင် စဉ်းစားအပ်သည်မှာ တိုက်မြင်းသည် မိမိသခင်၏ မြက်ချောက်၊ ပဲစသည့် သာမန်အာဟာရများကို စားသုံးရရုံမျှဖြင့် မိမိသခင်အတွက် အသက်ပေးရန် အသင့်ဖြစ်သွားလေသည်။ သခင်ညွှန်ရာပြေးသည်။ ရန်သူများ၏ ကျည်ဆံ၊ လှံစွပ်များကိုမမှုဘဲ ရန်သူစစ်သည်များအုပ်စုထဲသို့ ရဲဝံ့စွာ ထိုးဖောက်ဝင်ရောက်သည်။ များစွာသော သစ္စာရှိသောမြင်းများသည် မိမိတို့ကိုယ်တိုင် အသက်အသေခံပြီး၊ မိမိတို့၏သခင်များကို ကာကွယ်ကြသည်။ လူသားသည် ဤကဲ့သို့သော အာဇာနည်တိုက်မြင်းများမှ သင်ခန်းစာယူသင့်ပေသည်။ မြင်းသည် မိမိ၏သခင်အား သစ္စာရှိလှ၏။ ကျေးဇူးသိတတ်လှ၏။ လူသားသည် မြင်း၏သစ္စာရှိမှုကို ကြည့်ကာ ငါသည်လည်း ငါ၏အရှင်သခင်အား သစ္စာရှိအပ်ပါ၏တကား၊ ကျေးဇူးသိသင့်ပါ၏တကားဟု သင်ခန်းစာ ရယူအပ်လှလေသည်။ ယခုမူ အချို့လူသားများသည် မြင်းမဆိုထားနှင့်၊ ခွေးတိရစ္ဆာန်လောက်ပင် သစ္စာမရှိ ကျေးဇူးမသိတတ်ပေ။

(၁) ဆိုလိုသည်ကား အသက်ကိုပင်စွန့်၍ (ဂျိဟာဒ်) ပြုလုပ်သော မုဂျာဟိဒ်များနှင့် ၎င်းတို့၏ တိုက်မြင်းများ၏ သစ္စာရှိမှုကို လူသားသည် တွေ့မြင်နေရ၏။ သို့ပါလျက် မည်သို့မျှ သင်ခန်းစာ မယူပေ။ လူသားကား မိမိ၏အရှင်အား ကျေးဇူးကန်းလှ၏။ လူသားသည် မိမိ၏ကျေးဇူးကန်းမှုကို မိမိ၏နှုတ်လျှာမှ ဖွင့်ဟသက်သေမခံသော်လည်း ၎င်း၏အပြုအမူက သက်သေခံလျက်ရှိပေသည်။ အကယ်၍သာ လူသားသည် မိမိ၏စိတ်ကို မေးကြည့်ပါက ၎င်း၏ စိတ်က ၎င်းအား "အသင်လူသား ကျေးဇူးကန်းလှပါတကား"ဟု ဖြေကြားသည့်အသံကို အမှန်မုချ ကြားရမည်သာတည်း။

وَإِنَّهُ لِحُبِّ الْخَيْرِ لَشَدِيدٌ ﴿٨﴾

၈။ ထိုမှတပါး ထိုလူသည် ဥစ္စာပစ္စည်းကို ခုံမင်စုံမက်ရာ၌ အလွန်စိတ်ထက်သန်နေသူဖြစ်၏။ (ထိုလူသည် ဥစ္စာပစ္စည်းကို အလွန်ခုံမင်သည့်အတွက် အလွန်စေးနဲသူဖြစ်၏)။ [၁]

أَفَلَا يَعْلَمُ إِذَا بُعْثِرَ مَا فِي الْقُبُورِ ﴿٩﴾

၉။ (ကိယာမတ်ဖြစ်သော)အခါတွင် သင်္ချိုင်းများအတွင်း၌ ရှိကြကုန်သောသူတို့သည် (ထိုသင်္ချိုင်းများကိုမှောက်လှန်၍) ထုတ်ဖော်ခြင်းခံကြရမည်ကို ထိုသူသည် မသိလေသလော။

وَحُصِّلَ مَا فِي الصُّدُورِ ﴿١٠﴾

၁၀။ ၎င်းပြင် စိတ်နှလုံးများအတွင်း၌ လျှို့ဝှက်ချက်များသည် ထင်ရှားစေခြင်း ခံရမည်ကိုလည်း ထိုသူ (မသိလေသလော)။

إِنَّ رَبَّهُم بِهِمْ يَوْمَئِذٍ لَّخَبِيرٌ ﴿١١﴾

၁၁။ မလွဲဧကန် ၎င်းတို့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်သည် ထိုနေ့တွင် ၎င်းတို့နှင့် ပတ်သက်၍ အလုံးစုံတို့ကို ကောင်းစွာ သိတော်မူသောအရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။ [၂]

---

(၁) လူ့သဘာဝအလျောက် လူသားများသည် နည်းများမဆို ဥစ္စာပစ္စည်းကို ရယူလိုကြပေသည်။ ထို့အတွက် အစ္စလာမ်ကလည်း တရားသဖြင့် သမာအာဇီဝနည်းနှင့် စီးပွားရှာဖွေခြင်းကို ခွင့်ပြုထားသည်။ သို့တစေလည်း ကျေးဇူးမသိတတ်သော ကာဖိရ်လူသားသည် လောကီစည်းစိမ်များသို့ အလွန်အကျွံ ခုံမင် မက်မောသည်။ ဥစ္စာကိုသာ အဓိကဟူ၍ ထင်မှတ်သည်။ လူလူချင်းခေါင်းပုံဖြတ်၍ မတရား အမြတ်ကြီးစားသည်။ အမှန်မှာ ကာဖိရ်လူသားသည် ဥစ္စာရူး, ရူးနေသည်။ ဥစ္စာကိုကိုးကွယ်နေသည်။ဤရွေ့ဤမျှ အလွန်အကျွံ ဥစ္စာခုံမင်မက်မောမှုသည် လူ၏ မှန်ကန်တော်မူသည့် ဖြောင့်မတ်သော အသိဉာဏ်အမြော်အမြင်ကို လုံးဝ ပျက်ပြားစေသည်။ လူသားအား စေးနဲစေသည်။ ကျေးဇူးကန်းစေသည်။ သွေးဖည်သောင်းကျန်းစေသည်။ ထို့အတွက်ကြောင့်ပင် ကာဖိရ်များသည် မိမိ၏ အရှင်သခင်အား ကျေးဇူးကန်းလျက်ရှိ၏။ သွေးဖည်သောင်းကျန်းလျက်ရှိ၏။ မကြာမီ ဖြစ်လတ္တံ့သော ကိယာမတ်နေ့တွင် မိမိမည်သို့ဖြစ်မည်ကို ကာဖိရ်မသိလေသလော။ ဥစ္စာကိုးကွယ်မှုသည် ဆိုးရွားလှဘိတကား။

(၂) ဆိုလိုသည်ကား ကိယာမတ်သည် မကြာမီဖြစ်ပေါ်တော့မည်။ ထိုနေ့တွင် သူသေများသည် သင်္ချိုင်းမှ ရှင်ပြန်ထကြမည်။ စိတ်နှလုံးသားအတွင်း၌ ဖုံးကွယ်လျက်ရှိသောအရာများသည်လည်း ပေါ်လွင်ထင်ရှားလာပေမည်။ အလ္လာဟ်အရှင်မြတ်သည်လည်း ၎င်းတို့၏ အရေးကိစ္စအဝဝကို အကြွင်းမဲ့ အလုံးစုံသိရှိထားတော်မူပြီးဖြစ်သည်။ ထိုနေ့တွင် ဥစ္စာပစ္စည်းသည် အသို့မျှ အကျိုးပေးမည်လည်း မဟုတ်ပေ။ ကာဖိရ်များသည် အသို့မျှ ➤➤

# ကြီးလေးသောဘေးဥပဒ်ကဏ္ဍ

سُوْرَةُ الْقَارِعَةِ

ဤကဏ္ဍသည် (အလ်ကာရိအဟ်) ကြီးလေးသောဘေးဥပဒ် အကြောင်းပါဝင်သောကဏ္ဍ မည်၏။ မက္ကာမြို့တော်၌ ကျရောက်ခဲ့၏။ ဤကဏ္ဍတွင် အာယတ်တော်(၁၁)ပါး ပါရှိ၏။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ ○

မပြတ်မစဲ သနားကြင်နာ ညှာတာတော်မူသော
မဟာကရုဏာတော်ရှင် ဖြစ်တော်မူသော
အလ္လာဟ်အရှင်မြတ်၏နာမံတော်ဖြင့် အစပြုပါ၏။

اَلْقَارِعَةُ ①

၁။ ထိုဘေးကြီးဆိုက်ရောက်ခြင်းသည် (ထို တီးခေါက်သောအရာသည်)။

مَا الْقَارِعَةُ ②

၂။ ထိုဘေးကြီးဆိုက်ရောက်ခြင်းသည် (ထို တီးခေါက်သောအရာသည်) မည်သည့်အရာနည်း။

وَمَاۤ اَدْرٰىكَ مَا الْقَارِعَةُ ③

၃။ စင်စစ် ထိုဘေးကြီး ဆိုက်ရောက်ခြင်းဟူသည် (ထိုတီးခေါက်သော အရာဟူသည်) မည်သည့်အရာဖြစ်သည်ကို အသင်သိပါသလော။

يَوْمَ يَكُوْنُ النَّاسُ كَالْفَرَاشِ الْمَبْثُوْثِ ④

၄။ အကြင်နေ့တွင် လူတို့သည် ပြန့်ကြဲလျက်ရှိကြသော ပိုးဖလံများကဲ့သို့ ဖြစ်ကြပေမည်။

وَتَكُوْنُ الْجِبَالُ كَالْعِهْنِ الْمَنْفُوْشِ ⑤

၅။ ထိုမှတပါး တောင်များသည် ဖတ်ပြီး အရောင်ဆိုးထားသော သိုးမွေးကဲ့သို့ ဖြစ်ကြပေမည်။ [၁]

---

➤➤ လွတ်မြောက်သွားနိုင်မည်လည်း မဟုတ်ပေ။ ထိုနေ့တွင် ကာဖိရ်များသည် မိမိတို့၏ ကျေးဇူးကန်းမှု၊ သွေဖည်မှုများ၏ အပြစ်ကို လုလုကြီးခံကြရပေမည်။ ယင်းသို့ ဖြစ်ရမည့်ဘေးကိုပင် ကာဖိရ်များ နားလည်ကြပါက ၎င်းတို့သည် ဥစ္စာရှူး, ရူးပြီး ကျေးဇူးကန်းဝံ့ကြမည် မဟုတ်ပေ။ သွေဖည်ဝံ့ကြမည် မဟုတ်ပေ။

(၁) တီးပေါက်မည့်အရာ၊ တစ်နည်း အလွန်ကြောက်မက်ဖွယ်ကောင်းလှသော ဘေးဥပဒ်အန္တရာယ်ကြီးဟူသည် ကိယာမတ်ကို ဆိုလိုသည်။ ကိယာမတ်နေ့၏ကြောက်လန့်မှုသည် စိတ်နှလုံးများကိုလည်းကောင်း၊ ပြင်းထန်လှသော ကြောက်မက်ဖွယ်ရာအသံသည် နားများကိုလည်းကောင်း၊ တီးခေါက်ထိုးဖောက် တုန်လှုပ်ချောက်ချားစေမည်။ ကိယာမတ်နေ့၏ ကြောက်လန့်ဖွယ်ရာ အဖြစ်ကိုကား ပြောပြ၍ မဖြစ်နိုင်ပေ။ ရေးပြ၍လည်း မဖြစ်နိုင်ပေ၊➤➤

فَأَمَّا مَنْ ثَقُلَتْ مَوَازِينُهُ ۝٦

၆။ ထိုအခါ အကြင်သူ၏ ချိန်စက်ခြင်းခံရသော (ကောင်းမှု)များသည် အချိန်စီးခဲ့မူ။

فَهُوَ فِي عِيشَةٍ رَّاضِيَةٍ ۝٧

၇။ ထိုသူသည် စိတ်တိုင်းကျစည်းစိမ်၌ (မွေ့လျော်စွာ)ရှိပေမည်။

وَأَمَّا مَنْ خَفَّتْ مَوَازِينُهُ ۝٨

၈။ သို့ရာတွင် အကြင်သူ၏ ချိန်စက်ခြင်းခံရ သော (ကောင်းမှု)များသည် (အချိန်မစီးဘဲ) ပေါ့၍ နေသည်ရှိသော်။

فَأُمُّهُ هَاوِيَةٌ ۝٩

၉။ ထိုသူ၏ နေထိုင်ရာဌာနမှာ နက်ရှိုင်းသော ငရဲတွင်းပင် ဖြစ်ပေမည်။[၁]

وَمَا أَدْرَاكَ مَا هِيَهْ ۝١٠

၁၀။ စင်စစ် ထိုငရဲတွင်းဟူသည် အဘယ်နည်းဟု အသင်သိပါသလော။

نَارٌ حَامِيَةٌ ۝١١

၁၁။ (ထိုငရဲတွင်းမှာကား) အလျှံပြောင်ပြောင် တောက်လောင်လျက်ရှိသော (ငရဲ)မီးပင် ဖြစ်ချေသတည်း။

---

➤➤ ကိယာမတ်၏ ကြောက်လန့်ဖွယ်ရာအဖြစ်ကို အနည်းငယ်တွေးဆ ဆင်ခြင်နိုင်ရန်အတွက် ကိယာမတ်၏ အချို့နိမိတ်လက္ခဏာများကို ဖွင့်ဟမိန့်ဆိုထားတော်မူသည်မှာ ထိုနေ့တွင် လူသားအားလုံးတို့သည် ဖရိုဖရဲ ပြန့်ကြဲလျက်ရှိသော ပိုးဖလံများကဲ့သို့ ကသီလင်တဖြစ်လျက် ရှိကြပေမည်။ ထိပ်ထိပ်ပျာပျာ ဖြစ်လျက်ရှိကြပေမည်။ ထုထည်ကြီးမားလှသော တောင်ကြီးများသည် ဖတ်ထားသော သိုးမွေး ဖန်ထားသော ဝါဂွမ်းကဲ့သို့ လွင့်စင်လျက်ရှိကြပေမည်။ ကိယာမတ်၏အဖြစ်သည် အမှန်တကယ် ကြောက်လန့်ဖွယ်ကြီးပါတကား။

(၁) ကိယာမတ်နေ့တွင် လူသားတို့ ကျင့်မူ ဆည်းပူးခဲ့ကြသော ကောင်းမှု၊ မကောင်းမှုများကို ကိယာမတ်နေ့တွင် ချိန်စက်၍ ကျိုးပြစ်ပေးတော်မူမည်ဖြစ်ရာ၊ ကောင်းမှုဘက်မှ အလေးချိန်စီးသူများသည် ဂျန္နတ်သုခဘုံ၌ ချမ်းမြေ့သာယာစွာ နေကြရမည်ဖြစ်သည်။ မကောင်းမှုဘက်မှ အလေးချိန်စီးသော သူများမှာမူ နက်ရှိုင်းသော ငရဲတွင်းသို့ လားကြရပေမည်။

ကောင်းမှု၊ မကောင်းမှုများကို ချိန်စက်၍ ကျိုးပြစ်ပေးတော်မူမည့်အကြောင်း ကုရ်အာန်(၇း၈-၉) ၏အဖွင့်တွင် အကျယ်ဖွင့်ဆိုရေးသားခဲ့ပါပြီ။

# ဥစ္စာကြွယ်ဝခြင်းကဏ္ဍ

سُورَةُ التَّكَاثُرِ

ဤကဏ္ဍသည် (အတ္တကာဆုရ်) ဥစ္စာကြွယ်ဝခြင်း ကဏ္ဍမည်၏။ မက္ကာမြို့တော်၌ ကျရောက်ခဲ့၏။ ဤကဏ္ဍသည် အာယတ်တော် (၈)ပါး ပါရှိ၏။

بِسْمِ اللَّهِ الرَّحْمَٰنِ الرَّحِيمِ

မပြတ်မစဲ သနားကြင်နာ ညှာတာတော်မူသော၊ မဟာကရုဏာတော်ရှင် ဖြစ်တော်မူသော အလ္လာဟ်အရှင်မြတ်၏နာမံတော်ဖြင့် အစပြုပါ၏။

أَلْهَاكُمُ التَّكَاثُرُ ①

၁။ (ဥစ္စာပစ္စည်း၊ သားသမီးအစရှိသော လောကီစည်းစိမ်) ပေါများကြွယ်ဝမှုနှင့်စပ်လျဉ်း၍ လောဘရမ္မက် ဂုဏ်တု၊ ဂုဏ်ပြိုင်ပြုမှုသည် အသင်တို့အား (တမလွန်ဘဝကို) လျစ်လျူရှု ပေါ့တန်စေခဲ့၏။

حَتَّىٰ زُرْتُمُ الْمَقَابِرَ ②

၂။ နောက်ဆုံးတွင် အသင်တို့သည် သင်္ချိုင်းများကို တွေ့မြင်ခဲ့ကြရလေသည်။

كَلَّا سَوْفَ تَعْلَمُونَ ③

၃။ သတိပြုကြလေကုန်၊ အသင်တို့သည် မကြာမြင့်မီပင် သိရှိကြပေမည်။

ثُمَّ كَلَّا سَوْفَ تَعْلَمُونَ ④

၄။ တဖန် သတိပြုကြလေကုန်၊ အသင်တို့သည် မကြာမြင့်မီပင် သိရှိကြပေမည်။

كَلَّا لَوْ تَعْلَمُونَ عِلْمَ الْيَقِينِ ⑤

၅။ အကယ်၍သာ အသင်တို့သည် တပ်အပ်သေချာစွာ သိခြင်းအားဖြင့် သိရှိကြသည် ရှိသော် အလျှင်း (လျစ်လျူရှု ပေါ့တန်ကြမည်) မဟုတ်ပေ။

لَتَرَوُنَّ الْجَحِيمَ ⑥

၆။ မလွဲဧကန် အသင်တို့သည် ဂျဟန္နမ်ငရဲကို တွေ့မြင်ကြပေမည်။

ثُمَّ لَتَرَوُنَّهَا عَيْنَ الْيَقِينِ ⑦

၇။ ထို့နောက် မလွဲဧကန် အသင်တို့သည် ယင်း ဂျဟန္နမ်ငရဲကို မျက်မြင်ဒိဋ္ဌတွေ့မြင်ကြပေမည်။

ثُمَّ لَتُسْـَٔلُنَّ يَوْمَئِذٍ عَنِ النَّعِيمِ ﴿٨﴾

၈။ ထို့နောက် အသင်တို့သည် စည်းစိမ်များနှင့် စပ်လျဉ်း၍ မုချအမှန် စစ်ဆေးမေးမြန်းခြင်းကို ခံကြရမည် ဖြစ်သတည်း။ [၁]

---

(၁) လောကီစည်းစိမ်များ၏ ပေါများကြွယ်ဝမှုကိုအကြောင်းပြု၍ ဂုဏ်တုဂုဏ်ပြိုင် ပြုလုပ်ခြင်း၊ မောက်မာပလွှား ဝါကြွားခြင်းသည် ဤပစ္စက္ခလောကီဘဝကို အလွန်အကျွံ နှစ်သက်မြတ်နိုးခြင်း၊ လိုးလားတပ်မက်မောခြင်း၏ လက္ခဏာပင် ဖြစ်ပေသည်။ ယင်းသို့ အလွန်အကျွံနှစ်သက်မြတ်နိုးခြင်းနှင့် တပ်မက်မောခြင်းသည် လူသားတို့အား နောင်တမလွန်အရေးမှ ပေါ့တန်စေသည်။လျစ်လျူရှုစေသည်။ မေ့ပျောက်နေစေသည်။ သို့ခေတ္တခဏ မေ့မေ့ ပျောက်ပျောက် နေနေကြသော်လည်း နောက်ဆုံးတွင် သင်္ချိုင်းသို့ မျက်မှောက်ပြုကြရသည် ဖြစ်လေသည်။ သွားရာလမ်းဆုံး သင်္ချိုင်းကုန်းသို့ ရောက်လာကြရသည်သာ ဖြစ်လေသည်။ လောကီစည်းစိမ်များကို စွန့်ခွာ၍ သေကြရသည်သာ ဖြစ်ရလေသည်။

အမှန်မှာ လောကီစည်းစိမ်များသည် မက်မောကြွားဝါဖွယ်ရာ အလျှင်းမဟုတ်၊ နောင်တမလွန် အရေးသည် လျစ်လျူရှုငြင်းပယ်ဖွယ်ရာ အလျှင်းမဟုတ်၊ မကြာမီအတွင်း သင်္ချိုင်းတွင်း ဆင်းလျှင်ဆင်းခြင်း အကြောင်းသိရှိကြရပေမည်။ ထို့နောက်တဖန် သတိပြုအပ်သည်မှာ ဤလောကီစည်းစိမ်များသည် မက်မောကြွားဝါဖွယ်ရာ အလျှင်းမဟုတ်၊ နောင်တမလွန်အရေးသည် လျစ်လျူရှုငြင်းဖွယ်ရာ အလျှင်းမဟုတ်၊ မကြာမီအတွင်း သင်္ချိုင်းတွင်းမှ ထွက်လျှင်ထွက်ခြင်း၊ 'မဟ်ရှရ်' ကွင်းတွင် အကြောင်းသိရှိကြရပေမည်။ ပြီးနောက် တဖန် သိထားအပ်သည်မှာ ဤလောကီစည်းစိမ်များသည် မက်မောကြွားဝါဖွယ်ရာ အလျှင်းမဟုတ်၊ နောင်တမလွန်အရေးသည် လျစ်လျူရှုငြင်းပယ်ဖွယ်ရာ အလျှင်းမဟုတ်၊ အကယ်၍သာ လူသားများသည် မှန်ကန်ခိုင်လုံ တိကျပြတ်သားသော လက်ခံနာယူအပ်သော အထောက်အထားများဖြင့် ဤသည့်အချက်ကို တပ်အပ်သေချာယုံကြည်စွာဖြင့် နားလည်သိရှိကြလျှင် လူသား တို့သည် လောကီစည်းစိမ်များတွင် ယင်းသို့ အလွန်အကျွံ နစ်မွန်းနေကြမည်မဟုတ်ပေ။ လောကီစည်းစိမ်များ၏ ပေါများကြွယ်ဝမှုကို အကြောင်းပြု၍ ယင်းသို့ ဂုဏ်တုဂုဏ်ပြိုင် မောက်မာပလွှား ဝါးကြွားနေကြမည် မဟုတ်ပေ။

အလ္လာဟ်အရှင်မြတ် ကစမ်၊ လူသားတို့သည် မောက်မာပလွှား ဝါကြွားနေခဲ့ကြသည့်အတွက်ကြောင့် ယခုသော် ဂျဟန္နမ်ငရဲကို အမှန်မုချ တွေ့မြင်ကြရတော့မည်။ အလ္လာဟ်၏ ကစမ် မချွတ်ဧကန်အမှန် မလွဲ မျက်ဝါးထင်ထင် (စာတွေ့မဟုတ်) လက်တွေ့ ကိုယ်တွေ့ ထိုငရဲကို တွေ့မြင်ကြရတော့မည်။ ထို့နောက်တဖန် သိထားအပ်သည်မှာ ထိုနေ့တွင် လူသား အားလုံးတို့သည် အလ္လာဟ်အရှင်မြတ် ချီးမြှင့်ထားတော်မူခဲ့သော ကျေးဇူးတော်များကို တရားသဖြင့် အသုံးပြုခဲ့ကြသည်။ မတရားသဖြင့် အလွဲသုံးစားပြုခဲ့ကြသည်များနှင့် စပ်လျဉ်း၍ စစ်ဆေးမေးမြန်းခြင်း ခံကြရပေမည်။ နောင်တမလွန်အရေး စိတ်အေးဖွယ်ရာ မဟုတ်ပြီ။

ဤကဏ္ဍလာ အာယတ်တော် (၁၀၂း၁-၇)သည် ကာဖိရ်များကို ရည်ညွှန်းသည်။ အာယတ်တော် (၁၀၂း၈)သည် ကာဖိရ်၊ မုအ်မင်န်မခြား လူသားအားလုံးတို့ကို ရည်ညွှန်းသည်။ ကိယာမတ်နေ့တွင် အပြစ်မဲ့သူများသည်ပင် အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်များနှင့်စပ်လျဉ်း၍ စစ်ဆေးမေးမြန်းခံကြမည်ဖြစ်ရာ ပြောင်ပြောင်ကြီး ပြစ်မှုကျူးလွန်ခဲ့သော ကာဖိရ်များမှာကား အသို့လျှင် လွတ်မြောက်သွားနိုင်ကြအံ့နည်း။ (ထာနဝီ)

# ခေတ်ကာလကဏ္ဍ




ဤကဏ္ဍသည် "အလ်အဆ္ဂ်ရ်" ခေတ်ကာလ ကဏ္ဍမည်၏။ မက္ကာမြို့တော်၌ ကျရောက်ခဲ့၏။ ဤကဏ္ဍတွင် အာယတ်တော် (၃)ပါး ပါရှိ၏။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ ۝

မပြတ်မစဲ သနားကြင်နာ ညှာတာတော်မူသော၊ မဟာကရုဏာတော်ရှင် ဖြစ်တော်မူသော အလ္လာဟ်အရှင်မြတ်၏နာမ်တော်ဖြင့် အစပြုပါ၏။

وَالْعَصْرِ ۝١

၁။ (ငါအရှင်မြတ်သည်) ခေတ်ကာလ (အဆ္ဂ်ရ် အချိန်၊ အဆ္ဂ်ရ်ဆွလာတ်)ကိုသက်သေထူတော်မူ၏။ [၁]

اِنَّ الْاِنْسَانَ لَفِيْ خُسْرٍ ۝٢

၂။ ကေန်စင်စစ် လူသည် အမှန်ပင် ဆုံးရှုံးမှု၌ ရှိ၏။ [၂]

---

① အလ္လာဟ်အရှင်မြတ်သည် ဤကဏ္ဍတွင် "အဆ္ဂ်ရ်" ကို သက်သေထူ၍ မိန့်ဆိုထားတော်မူသည်။ မုဖတ်စ်ဆိရ်များသည် ဤပုဒ်နှင့်စပ်လျဉ်း၍ အနက်အမျိုးမျိုး ဖွင့်ကြပေသည်။

(၁) 'အဆ္ဂ်ရ်' ဟူသည် ခေတ်ကိုဆိုလိုသည်။ ခေတ်ကာလတွင် အဖြစ်အပျက်အမျိုးမျိုး၊ အံ့ဖွယ်ရာအဖုံဖုံ၊ ဆင်ခြင်ဖွယ် အစုံစုံ တွေ့ရှိရပေသည်။

(၂) 'အဆ္ဂ်ရ်' ဟူသည် လူ၏သက်တမ်းတစ်ခုလုံးကို မဆိုထားလင့်၊ လူ့သက်တမ်း၏ တစ်နှစ်၊ တစ်လ၊ ရက်သတ္တပတ်၊ တစ်ရက်၊ တစ်နာရီ၊ တစ်မိနစ် ကိုမဆိုထားလင့်၊ တစ်စက္ကန့်အဖိုးကိုပင် မည်သူမျှ မဖြတ်နိုင်ပေ။ လူ့သက်တမ်းသည် လူသားအဖို့ ကောင်းကျိုးချမ်းသာ အဖြာဖြာကို ဆည်းပူး၍ အထွတ်အထိပ်သို့ ရောက်ရှိနိုင်ရန်အတွက် လွန်စွာ အဖိုးထိုက်တန်လှသော မရှိလျှင် မဖြစ်သော အကြောင်းတစ်ရပ်ပင်ဖြစ်ပေသည်။

(၃) "အဆ္ဂ်ရ်" ဟူသည် အဆ္ဂ်ရ်ဆွလာတ် ဝတ်ပြုချိန်ကိုလည်း ဆိုလိုသည်။ အဆ္ဂ်ရ် အချိန်သည် လူသားတို့ ရောင်းဝယ်ဖောက်ကား၊ သွားလာ လှုပ်ရှား အလွန်အလုပ်များသော အချိန်ဖြစ်သည်။ အစ္စလာမ်၏ ရှုရီအတ်အမြင်အရလည်း၊ အလွန်မြင့်မြတ်သော အချိန်ဖြစ်သည်။ တမန်တော်မြတ်က "အကြင်သူတစ်ဦးသည် အဆ္ဂ်ရ်ဆွလာတ်ကို ဝတ်မပြုမိဘဲ ဆုံးရှုံးပါက သူ၏ဥစ္စာပစ္စည်းနှင့် အိမ်သူအိမ်သားအားလုံး ပျက်စီး ဆုံးရှုံးရ သကဲ့သို့ ဖြစ်ချေသည်။" ဟူ၍ပင် မိန့်ဆိုထားတော်မူသည်။

(၄) "အဆ္ဂ်ရ်" ဟူသည် တမန်တော်မြတ်၏ သက်တမ်းကိုလည်း ဆိုလိုသည်။ ထိုသည့်သက်တမ်းတွင် တမန်တော်မြတ်၏ အမြင့်မြတ်ဆုံးသော တမန်တော်မြတ်အဖြစ်နှင့် အကြီးဆုံးသော "ခိလာဖတ်" အုပ်ချုပ်မှုသည် စံမတူအောင် တိုးတက်ကြီးပွား ထွန်းလင်းတောက်ပပေသည်။

② **ဆုံးရှုံးသူ။**

"မုချကေန်လူသားသည် အမှန်ပင် ဆုံးရှုံးမှုတွင် သက်ရောက်နေ၏။" ဤကား ကုရ်အာန်ကျမ်းလာ အာယတ်တော်ပင်တည်း။ လင်းပြဦးအံ့။



إِلَّا الَّذِينَ آمَنُوا وَعَمِلُوا الصَّالِحَاتِ وَتَوَاصَوْا بِالْحَقِّ وَتَوَاصَوْا بِالصَّبْرِ ③

၃။ အကြင်သူတို့မှတပါး ထိုသူတို့သည် (အီမာန်) သက်ဝင်ယုံကြည်ခဲ့ကြ၏။ ၎င်းပြင် ကောင်းမြတ်သော အကျင့်သီလများကိုလည်း ကျင့်မှုဆောက်တည်ခဲ့ကြ၏။ ထို့ပြင် အချင်းချင်း မှန်ကန်သော (သာသနာပေါ်ဒ္ဓ ကြံ့ခိုင်စွာ)တည်ရှိကြရန်လည်း ဆုံးမကြကုန်၏။ ထိုမှတပါး ၎င်းတို့သည် သည်းခံကြရန်လည်း အချင်းချင်း ဆုံးမကြကုန်သတည်း။ [၁]

---

➤➤ လူ၏သက်တမ်းသည် အလွန်အဖိုးတန်၏။ သတ္တဝါတိုင်းသည် မိမိ၏သက်တမ်းကို လွန်စွာမြတ်နိုး၏။ ထိုသည့် သက်တမ်းသည် တိုးတောင်းလှ၏။ စက္ကန့်ပိုင်းနှင့်အမျှ ရေခဲအရည်ပျော်သကဲ့သို့ အလား၊ ဆုတ်ယုတ်လျက်ရှိ၏။ သို့ပါလျက် လူသားသည် မိမိ၏ အဖိုးတန်လှသော စက္ကန့်ပိုင်းနှင့်အမျှ ဆုတ်ယုတ်လျက်ရှိသော၊ တိုတောင်းလှသော သက်တမ်းတွင် မိမိအား အကျိုးပြုမည့် ကောင်းမှုကုသိုလ် တစ်စုံတစ်ရာ မဆည်းပူးနိုင်ခဲ့ပါသော် ဤသခ်ါရဘဝတွင် နောင်တမလွန်ဘဝအဖို့ ထာဝစဉ် အကျိုးပြုမည့် ထာဝရသုခကို မဆည်းပူးနိုင်ခဲ့ပါသော် ထိုသူထက် ဆုံးရှုံးသူမှာ အဘယ်မှာလျှင် ရှိနိုင်အံ့နည်း။

ကမ္ဘာ့သမိုင်းကြောင်းကို လေ့လာကြည့်ရှုပါက မိမိသက်တမ်းတွင် ဖြစ်ပေါ်ခဲ့သော အဖြစ်အပျက်များကို တွေးဆဆင်ခြင်ပါက အချိန်ကို တန်ဖိုးမထားဘဲ၊ နောင်ရေးမတွေးဘဲ၊ နောင်ဖြစ်ပေါ်လာမည့် အကျိုးဆက်ကို မဆင်ခြင်ဘဲ၊ လောကီစည်းစိမ် များတွင် နစ်မွန်း၍ အချည်းနှီး၊အလဟဿ အကျိုးမဲ့ကိစ္စများတွင် အချိန်ဖြုန်းတီး၍ မိမိ၏တိုတောင်းလှသော အဖိုးထိုက်တန်လှသော သက်တမ်းကို အချည်းနှီးဖြုန်တီးပစ်သော သူများသည် အဆုံးကြီးဆုံး အရှုံးကြီးရှုံး၍ ပျက်စီးခြင်းကြီးမက ပျက်စီးသွားခဲ့ကြသည်ကို ကောင်းစွာ သိရှိရပေမည်။ သို့မို့ကြောင့် လူသားသည် မိမိရရှိထားသော အချိန်ကို အထူးလေးစားရာ၏။ မိမိ၏ အဖိုးထိုက်တန်လှသော တိုတောင်းလှသော သက်တမ်းကို အချည်းနှီးသော အကျိုးမရှိသော လောကီရေးများတွင် မဖြုန်းတီးရာ။ မိမိ၏ တိုးတောင်းလှသော သခ်ါရမျှသာဖြစ်သောသက်တမ်းတွင် နောင်တမလွန်ဘဝဒ္ဓ ထာဝစဉ်အကျိုးပြုမည့် ထာဝရသုခ၊ ထာဝရ ကုသိုလ်များကိုသာ ဆည်းပူးရာ၏။ ထိုသို့သော သူများကား ဆုံးရှုံးကြမည်မဟုတ်ပေ။ ထိုသို့သော သူမွန် သူမြတ်တို့၏ ဂုဏ်ရည်များကိုပင် ရှေ့အာယတ်တော်များတွင် မိန့်ဆိုထားတော်မူပေသည်။

① **မဆုံးရှုံးသူ။**

လူသားသည် မဆုံးရှုံးလိုပါက ဂုဏ်ရည်လေးရပ်နှင့် ပြည့်စုံရပေမည်။

(၁) လူသားသည် အလ္လာဟ်အရှင်မြတ်နှင့် တမန်တော်မြတ်အား (အီမာန်) ယုံကြည်ရမည်။ တမန်တော်မြတ်မှတစ်ဆင့် ထိုအရှင်မြတ် ထုတ်ပြန် ချမှတ်တော်မူသော လောကီ၊ လောကုတ္တရာဆိုင်ရာ ကတိသစ္စာ တော်များကို စွဲမြဲစွာ ယုံကြည်ရမည်။

(၂) ထိုသည့် ယုံကြည်ချက်၏ အကျိုးဆက်သည် စိတ်နှလုံးနှင့် ဦးနှောက်အတွင်း၌သာ ရပ်တည်မနေရာ၊ ကိုယ်ခန္ဓာ အစိတ်အပိုင်းများတွင် ပျံ့နှံ့ပေါ်လွင်ထင်ရှားနေစေရမည်။ (ဝါ) စိတ်နှလုံးအတွင်းမှ ယုံကြည်သည့် အလျောက် ကာယကံမြောက် လိုက်နာကျင့်မူရမည်။ ဝစီကံမြောက် ဖွင့်ဟပြောဆိုရမည်။ အကျင့်အမူ အပြောအဆိုသည် စိတ်တွင်းရှိ အီမာန်ယုံကြည်ချက်၏ သရုပ်သကန် ဖြစ်ရှိနေရပေမည်။➤➤

➤➤ (၃) ထိုပြင်တစ်ဝ မဆုံးရှုံးလိုသော လူသားသည် မိမိတစ်ကိုယ်တည်း၏ ပြုပြင်မှု၊ ကောင်းစားမှု၊ အောင်မြင်မှုများနှင့်သာ တင်းတိမ်မနေရာ။ သူတစ်ပါးတို့အား ပြုပြင်မှု၊ ကောင်းစားမှု၊ အောင်မြင်မှုများကိုလည်း ရှေ့ရှုရမည်။ အတ္တဟိတ ကိုယ်ကျိုးကိုသာ မကြည့်ရာ။ ပရဟိတ သူတစ်ပါး၏အကျိုးကိုလည်း ကြည့်ရာ၏။ မွတ်စ်လင်မ်နှစ်ဦး တွေ့ဆုံလျှင် အချင်းချင်း တစ်ဦးကိုတစ်ဦး မှန်ကန်သော သာသနာအပေါ်၌ ရပ်တည်ကာ အရေးကိစ္စအဝဝတွင် အမှန်တရားကိုသာ ကျင့်သုံးရန် ကာယကံ၊ ဝစီကံ၊ မနောကံအားဖြင့် တိုက်တွန်း နှိုးဆော်ရမည်။

(၄) ထိုမှတစ်ပါး အချင်းချင်းတွေ့ဆုံသည့်အခါ 'အမှန်တရားကို လိုက်နာကျင့်မှုရာတွင်လည်းကောင်း၊ တစ်ဦးချင်းကိုဖြစ်စေ၊ တစ်မျိုးသားလုံးကိုဖြစ်စေ သွန်သင်ဆုံးမရာတွင်လည်းကောင်း၊တွေ့ကြုံရအံ့သော ဘေးဒုက္ခအန္တရာယ် အသွယ်သွယ်တို့ကို မယိမ်းမယိုင် ကျောက်တိုင်ပမာ တည်ကြည်စွာဖြင့် အပြုံးနှင့် ရဲရဲ ရင်ဆိုင်ရမည့်အကြောင်း၊ တိုက်တွန်းနှိုးဆော်ရမည်။

အကြင်သူများသည် ဤသည့်ဂုဏ်ရည်လေးရပ်နှင့် ပြည့်စုံအံ့၊ မိမိကိုယ်တိုင် ယင်းသည့်ဂုဏ်ရည်များနှင့် ပြည့်စုံသည်သာမက သူတစ်ပါးတို့အားလည်း ပြည့်စုံ အောင် ပြုလုပ်ပေးကြအံ့။ ထိုသို့သော ပုဂ္ဂိုလ်မွန်တို့သည် ဆုံးရှုံးရန်ဝေးစွ၊ အောင်မြင်ခြင်းကြီးမက အောင်မြင်ကြပေသည်။ကမ္ဘာတစ်သက် ဥဒါန်းတွင်လျက်ရှိကြပေမည်။ မိမိတို့၏ သက်တမ်းတွင် အသက်ထက်ဆုံး တည်ကြည်စွာ ယုံကြည်ဆောက်တည် ဟောပြောထားခဲ့ကြသော ကုသိုလ်ကောင်းမှုများသည်လည်း ၎င်းတို့သေဆုံးသွားကြသည့်အခါ ရပ်တန့်ပြတ်စဲသွားသည် မဟုတ်ပဲ ထာဝစဉ် ရှင်လျက်ရှိသော ကုသိုလ်များအဖြစ်တည်ရှိကာ ၎င်းတို့၏ ကုသိုလ်အကျိုးများကို မပြတ်ခါခါ တိုးပွားစေလျက်သာ ရှိကြမည်တည်း။

အတိတ်ခေတ်တွင် မွတ်စ်လင်မ်သူတော်စင်များသည်တစ်ဦးနှင့်တစ်ဦး တွေ့ဆုံပြီးနောက် ခွဲခွာကြသည့် အခါ အချင်းချင်း ဤကဏ္ဍကို ရွတ်ဖတ်ပြလေ့ရှိခဲ့ကြသည်။

ဤကဏ္ဍနှင့်စပ်လျဉ်း၍ အေမာမ်ရှာဖီအီသခင်က "အကယ်၍ ကုရ်အာန်ကျမ်းမြတ်လာ အာယတ်တော် များအနက် မှ ဤကဏ္ဍတစ်ခုတည်းပင်၊ ကျရောက်လာခဲ့ပါကလည်း (ဉာဏ်အမြော်အမြင် ရှိသူများအဖို့) တရားရယူနိုင်ရန် လုံလောက်ပေသည်။" ဟူ၍ပင် ထုတ်ဖော်ပြောကြားခဲ့လေသည်။

## ချောပစ်ကုန်းတိုက်သူကဏ္ဍ




ဤကဏ္ဍသည် (ဟုမဇဟ်) ချောပစ်ကုန်းတိုက်သူ အကြောင်းပါဝင်သော ကဏ္ဍမည်၏။ မက္ကာမြို့တော်၌ ကျရောက်ခဲ့၏။ ဤကဏ္ဍတွင် အာယတ်တော် (၉)ပါး ပါရှိ၏။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ ۝

မပြတ်မစဲ သနားကြင်နာ ညှာတာတော်မူသော မဟာကရုဏာတော်ရှင် ဖြစ်တော်မူသော အလ္လာဟ်အရှင်မြတ်၏နာမံတော်ဖြင့် အစပြုပါ၏။

وَيْلٌ لِّكُلِّ هُمَزَةٍ لُّمَزَةِ ۝١

၁။ နောက်ကွယ်၌အတင်းပြောသူတိုင်း၊ မျက်နှာစုံညီ စောင်းချိတ်ရှုတ်ချသူတိုင်း၊ ကျိုးယုတ်ပျက်စီးမည်သာတည်း။ [၁]

الَّذِي جَمَعَ مَالًا وَّعَدَّدَهٗ ۝٢

၂။ အကြင်(အတင်းပြော၊ စောင်းချိတ်ရှုတ်ချ)သူသည် ပစ္စည်းဥစ္စာကို စုဆောင်းပြီး ထိုပစ္စည်းဥစ္စာကို အကြိမ်ကြိမ် ရေတွက်လျက်ရှိ၏။ [၂]

يَحْسَبُ اَنَّ مَالَهٗٓ اَخْلَدَهٗ ۝٣

၃။ ထိုသူသည် မိမိအား မိမိဥစ္စာပစ္စည်းသည် အမြဲတစေ (အသက်ထင်ရှား)ရှိစေမည်။(တစ်နည်း) (မိမိထံ မိမိဥစ္စာပစ္စည်းသည် အမြဲတစေရှိနေမည်ဟု) ထင်မှတ်လေ၏။ [၃]

---

(၁) အချို့သူများသည် မိမိ၏အပြစ်ကို မမြင်ကြ၊ သူတစ်ပါး၏ အပြစ်ကို မြင်ကြ၏။ သူတစ်ပါး၌ လွန်စွာအပြစ်ရှာကြ၏။ သူတစ်ပါးကို အထင်အမြင်သေးကြ၏။ နောက်ကွယ် အတင်းပြောကြ၏။ ရှေ့မှောက်တွင် ကဲ့ရဲ့ ပြစ်တင်ရှုတ်ချကြ၏။ ထိုသို့သော သူများသည် မိမိ၏အပြစ်ကို ဘယ်သောအခါမျှ မမြင်ကြ၊ မပြုပြင်ကြ၊ မိမိ၏အပြစ်ကို မမြင်သော၊ မပြုပြင်သော သူများသည် နောက်ဆုံး တွင် ပျက်စီးခြင်းကြီးမက ပျက်စီးကြရသည်သာတည်း။

(၂) သူတစ်ပါး၌ အပြစ်ရှာခြင်း၊ သူတစ်ပါးအား နောက်ကွယ်အတင်းပြောခြင်း၊ ရှေ့မှောက်တွင် ကဲ့ရဲ့ပြစ်တင်ရှုတ်ချခြင်း၏ အကြောင်းမှာ မိမိကိုယ်ကို မိမိအထင်ကြီးခြင်းပင် ဖြစ်သည်။ သို့အထင်ကြီးခြင်း၏ အကြောင်းမှာ ဥစ္စာပစ္စည်းလောဘကြီးခြင်း ပင်ဖြစ်သည်။ ထိုသို့သောသူများသည် လောဘရမ္မက် ကြီးလွန်းလှသဖြင့် တရားသောနည်းနှင့်ဖြစ်စေ၊ မတရားသောနည်းနှင့်ဖြစ်စေ၊ မည်သည့်နည်းနှင့်မဆို ဥစ္စာပစ္စည်းကိုသာ သိမ်းကြုံးစုဆောင်းကြသည်။ စေးနဲတွန့်တိုလှသည့်အတွက် တစ်ပြားတစ်ချပ်လျော့နည်း ပျောက်ဆုံးသွားမည်ကို ➤➤

كَلَّا لَيُنۢبَذَنَّ فِي الْحُطَمَةِ ﴿٤﴾

၄။ အလျှင်းမဟုတ်၊ စင်စစ်မှာကား ထိုသူသည် ချိုးဖျက်ချေခွဲ အပိုင်းပိုင်း အစစဖြစ်စေသော (ငရဲ)၌ ပစ်ချခြင်းကို အမှန်ပင်ခံရလတ္တံ့။ ၁

وَمَآ أَدْرَىٰكَ مَا الْحُطَمَةُ ﴿٥﴾

၅။ စင်စစ် ထိုချိုးဖျက်ချေခွဲ အပိုင်းပိုင်း အစစဖြစ်စေသော (ငရဲ)သည် အဘယ်နည်းဟု အသင်သိပါသလော။

نَارُ اللَّهِ الْمُوقَدَةُ ﴿٦﴾

၆။ မွှေးထားပြီးဖြစ်သော အလ္လာဟ်အရှင်မြတ်၏ ငရဲမီးပင်။ (တစ်နည်း) အလ္လာဟ်အရှင်မြတ် (အမိန့်တော်အရ မွှေးထားတော်မူသောမီးပင်)။

الَّتِي تَطَّلِعُ عَلَى الْأَفْـِٔدَةِ ﴿٧﴾

၇။ အကြင်မီးသည် စိတ်နှလုံးများအထိ တိုးတက်ဖုံးလွှမ်းလေ၏။ (ထိရောက်လေ၏)။

إِنَّهَا عَلَيْهِم مُّؤْصَدَةٌ ﴿٨﴾

၈။ ကေန်မလွဲ ထိုမီးသည် ၎င်းတို့အပေါ်၌ ပိတ်ဆို့ပြီး ဖြစ်ပေမည်။

---

➤➤ စိုးရိမ်လွန်းလှသည့်အတွက် မိမိတို့၏ ဥစ္စာပစ္စည်းများကို မကြာခဏ ရေတွက်ကြည့်ရှုလေ့ရှိကြသည်။ ထိုသို့ရေတွက်ကြည့်ရှု ရသည့်အတွက် မမောမပန်းကြသည်သာမက ပီတိပင်ဖြစ်ကြလျက် ရှိကြပေသည်။ အပျော်ကြီး ပျော်နေကြပေသည်။ ဤကား မြေရှင်ကြေးရှင် မနရှင်ဆိုတို့၏ ဝသီတစ်ရပ်ပင်။

② ထိုသို့သော ဥစ္စာရှူးများက ၎င်းတို့၏ ဥစ္စာပစ္စည်းသည် ဘယ်သောအခါမျှ ပျက်စီးသွားမည်မဟုတ်။ ၎င်းတို့၏ ဥစ္စာပစ္စည်းသည် ၎င်းတို့အား တွေ့ကြုံရအံ့သော ဘေးအန္တရာယ်အပေါင်းမှ ကာကွယ်ပေးလိမ့်မည်။ အခါခပ်သိမ်း အကျိုးပြုလိမ့်မည်ဟူ၍ပင် ထင်မှတ် နေကြသည်။ ဤသို့ထင်မှတ်ခြင်းကား အမှားသက်သက်ပင်။ မှားယွင်းသည့်အကြောင်းကို ရှေ့အာယတ်တော်တွင် မိန့်ဆိုထားတော်မူသည်။

① ဥစ္စာရူးတို့ ထင်မှတ်နေကြသည့်အတိုင်းဖြစ်မည် အလျှင်းမဟုတ်၊ ဥစ္စာရူးတို့သည် လောဘရမ္မက်ကြီးစွာဖြင့် ချမ်းသာသည်ထက် ချမ်းသာအောင်၊ကြွယ်ဝသည်ထက် ကြွယ်ဝအောင် မိမိတို့၏ ဥစ္စာ ပစ္စည်းများကို မစားရက်၊မသောက်ရက်၊မသုံးရက်၊ မလှူရက်၊ မတန်းရက် စုဆောင်းထားခဲ့ကြသည်။ထိုသည့်ဥစ္စာပစ္စည်းများသည် ၎င်းတို့နှင့်အတူ အခါခပ်သိမ်းတည်ရှိနေလိမ့်မည်ဟူ၍လည်း ထင်မှတ် နေခဲ့ကြသည်။ထိုသို့ကား အလျှင်းမဟုတ်၊ ၎င်းတို့၏ ဥစ္စာပစ္စည်းများသည် သင်္ချိုင်းအထိပင် ပါရှိမည်မဟုတ်ပေ။ ၎င်းတို့ သေဆုံးကြသည့်အခါ ၎င်းတို့၏ ဥစ္စာပစ္စည်းများသည် ဤမှာပင် ကျန်ရှိနေခဲ့ပေမည်။ တစ်ပြားတစ်ချပ်မျှပင် ၎င်းတို့နှင့်အတူ လိုက်ပါခဲ့မည်မဟုတ်ပေ။ ထိုသို့သော ဥစ္စာရူးများသည် “ဟုတွမဟ်” တည်းဟူသော ငရဲတွင်းသို့ ပစ်ချခြင်းခံကြရမည်သာတည်း။ ဤကား မည်သူမပြု မိမိမှုပင်တည်း။

فِي عَمَدٍ مُّمَدَّدَةٍ ﴿٩﴾

၉။ ရှည်လျားစွာသော (မီးကျီး)တိုင်များ၌ (တုပ်နှောင်လျက်)။ ¹

---

① **'ဟုတွမဟ်' ကားအဘယ်နည်း။**

သိထားအပ်သည်မှာ 'ဟုတွမဟ်' သည် လူ့လောကရှိ လူသားတို့ အသုံးပြုသော သာမန်မီးမဟုတ်။ အလ္လာဟ်အရှင်မြတ်၏အမိန့် တော်အရ မွေးထားသော ငရဲမီးပင်။ ထိုငရဲမီးကား အတိုင်းမသိ ပူပြင်းဘိတကား၊ လွန်စွာ ကြောက်ဖွယ်ရာတည်း။ ထိုသည့်ငရဲမီးကား၊ အံ့တစ်ပါးတည်း။ ထိုသည့်ငရဲမီး၌ အသိရှိသည်။ စိတ်နှလုံးများကို ချောင်းကြည့်သည်။ (အီမာန်) ယုံကြည်မှုရှိသော စိတ်နှလုံးများကို မလောင်ကျွမ်းပေ။ (ကုဖ်ရ်) သွေဖည်မှုရှိသော စိတ်နှလုံးများကိုသာ လောင်ကျွမ်းပေသည်။

ထိုငရဲမီး၏ အပူရှိန်ကား လွန်စွာပြင်းသည်။ ကိုယ်ခန္ဓာကို ထိရုံမျှဖြင့် စိတ်နှလုံးများကိုလည်း ထိရောက်လောင်ကျွမ်းစေသည်။ တစ်နည်းဆိုသော် ငရဲမီးသည် ရုပ်ကိုသာမက နာမ်ကိုပါ လောင်ကျွမ်းစေသည်။

ထို့ပြင်တစ်ဝ ဥစ္စာရူးကာဖိရ်များသည် ငရဲတွင်ထည့်သွင်း၍ အဖက်ဖက်မှ ပိတ်လှောင်ထားခြင်းတို့ ခံကြရပေမည်။ ၎င်းတို့အဖို့ ထွက်ပေါက်ဟူ၍ တစ်ပေါက်မျှရှိမည်မဟုတ်ပေ။ ထိုမှတစ်ပါး ငရဲမီး၏ မီးတောက်မီးလျှံများမှာလည်း ရှည်လျားသော တိုင်ကြီးများသဖွယ် မြင့်စွင့်ကြပေမည်။ အဆိုတစ်ရပ်အရ ငရဲသားများသည် မည်သို့မျှ မလှုပ်ရှားနိုင်ရန်အတွက် ရှည်လျားသော တိုင်ကြီးများတွင် တုတ်နှောင်ထားခြင်း ခံကြရမည်ဟူ၏။ အခြားအဆိုတစ်ရပ်အရ ငရဲ၏ မုခ်ဝတွင် ရှည်လျားသော တိုင်ကြီးများကို ထည့်သွင်းပြီးအပေါ်မှ လုံးဝပိတ်ဆို့ထားမည်ဟူ၏။

သို့ပြင်းထန်လှသော ငရဲမီးတွင် ကျရောက်မီးမြိုက်ခြင်း ခံနေကြရသော ငရဲသားများသည် ခံစားရသောဒဏ်ကို မခံနိုင်ကြသည့်အဆုံး တွင် အသက်သေဆုံး၍ ငရဲမီးဒဏ်မှ လွတ်မြောက်ကြရန် လိုလားကြပေမည်။ သို့တစေလည်း ၎င်းတို့၏ လိုလားချက်သည် အသို့မျှ အောင်မြင်မည် မဟုတ်ပေ။ ငရဲမီးတွင် မသေမရှင် ထာဝစဉ်ခံစား နေကြရမည်သာတည်း။ (အလ္လာဟ်အရှင်မြတ်သည် ကျွန်တော်မျိုးတို့အား ထိုသည့်ငရဲမီးဘေးမှ ဖယ်ရှားပေးတော်မူသည် ဖြစ်ပါစေသတည်း။)

# ဆင် ကဏ္ဍ

سُوْرَةُ الْفِيْلِ

ဤကဏ္ဍသည် "အလ်ဖီလ်" ဆင် အကြောင်းပါဝင်သော ကဏ္ဍမည်၏။ မက္ကာမြို့တော်၌ ကျရောက်ခဲ့၏။ ဤကဏ္ဍတွင် အာယတ်တော် (၅)ပါး ပါရှိ၏။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ

မပြတ်မစဲ သနားကြင်နာ ညှာတာတော်မူသော မဟာကရုဏာတော်ရှင် ဖြစ်တော်မူသော အလ္လာဟ်အရှင်မြတ်၏နာမံတော်ဖြင့် အစပြုပါ၏။

اَلَمْ تَرَ كَيْفَ فَعَلَ رَبُّكَ بِاَصْحٰبِ الْفِيْلِ ①

၁။ (အို-နဗီတမန်တော်) အသင့်အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်သည် ဆင်ပိုင်ရှင်တို့အား မည်သို့မည်ပုံ ပြုလုပ်တော်မူခဲ့သည်ကို အသင်သည် မသိမမြင် မဆင်ခြင်ခဲ့ပါလေသလော။

اَلَمْ يَجْعَلْ كَيْدَهُمْ فِيْ تَضْلِيْلٍ ②

၂။ ထိုအရှင်မြတ်သည် ၎င်းတို့၏ လျှို့ဝှက်ကြံစည်မှုကို ပျက်ပြားစေတော်မူခဲ့သည် မဟုတ်လော။

وَّاَرْسَلَ عَلَيْهِمْ طَيْرًا اَبَابِيْلَ ③

၃။ ထိုနည်းတူစွာ ထိုအရှင်မြတ်သည် ၎င်းတို့အပေါ်၌ ငှက်များကို အုပ်စုလိုက် စေလွှတ်တော်မူခဲ့သည်မဟုတ်လော။

تَرْمِيْهِمْ بِحِجَارَةٍ مِّنْ سِجِّيْلٍ ④

၄။ ထိုငှက်များသည် ၎င်းတို့အား ရွှံ့စေးဖြင့် ပြုလုပ်ထားသော ကျောက်ခဲများဖြင့် ပစ်ခတ်လျက် ရှိခဲ့ကြကုန်၏။

فَجَعَلَهُمْ كَعَصْفٍ مَّاْكُوْلٍ ⑤

၅။ ၎င်းနောက် ထိုအရှင်မြတ်သည် ၎င်းတို့အား စားထားပြီးဖြစ်သော ကောက်ရိုးဖတ်များကဲ့သို့ ပြုလုပ်တော်မူခဲ့ပေသတည်း။ [၁]

---

(၁) **'အတ်ဆ်ဟာဗုလ်ဖီလ်' ဆင်ရှင်များ။**

အီသီယိုပီးယားဘုရင်သည် ယမန်ပြည်၌ ဘုရင်ခံတစ်ဦးကို ခန့်အပ်ထားခဲ့၏။ အဆိုပါ ဘုရင်ခံ၏ အမည်မှာ အဗ်ရဟာဟ်ဟူ၍ ဖြစ်၏။ အရဗ်လူမျိုးအားလုံးတို့သည် မက္ကာမြို့တော်ရှိ 'ကအ်ဗဟ်' ➤➤

➤➤ ကျောင်းတော်သို့ သွားရောက်၍ ဟဂ်ျပြုလေ့ရှိခဲ့ကြ၏။ ဤသည်ကို အဗ်ရဟာဟ်သိမြင်သောအခါ မရှုဆိတ်ဖြစ်ကာ မက္ကာမြို့တော်သို့ အရဗ်တို့ ဟဂ်ျပြုရန် သွားကြမည့်အစား၊ မိမိအုပ်ချုပ်ရာ ယမန်ပြည်မှာ စုရုံးနိုင်ရန် အစီအစဉ်တစ်ရပ် ပြုလုပ်နိုင်ပါက ကောင်းမည်ဟု တွေးမိလေသည်။

သို့တွေးမိသည့်အလျောက် မိမိသက်ဝင်ယုံကြည်နေသော ခရစ်ယာန်ဘာသာကို အကြောင်းပြု၍ အလွန်ထည်ဝါခံ့ညားသော၊ အလွန်မြင့်စွင့်သော၊ လက်ရာအလွန်မြောက်သော မျက်စိပသာဒဖြစ်စေမည့် အရာမျိုးစုံပါဝင်သော အလွန်ကြည်ညိုဖွယ်ရာ ဝတ်ကျောင်းကြီးတစ်ကျောင်းကို တည်ဆောက်ရလျှင် လူများသည် မက္ကာမြို့တော်ရှိ ရိုးရိုးတည်ဆောက်ထားသော ကအ်ဗဟ်ကျောင်းတော်ကို စွန့်၍ မိမိတည်ဆောက်မည့် ထည်ဝါခံ့ညားသော ခရစ်ယာန်ဝတ်ကျောင်းကြီးသို့ အမှန်မုချ လာရောက် ဟဂ်ျပြုကြမည်ဖြစ်သည်ဟု ကြံစည်မိလေသည်။

သို့ကြံစည်မိသည့်အလျောက် အဗ်ရဟာဟ်သည် ယမန်ပြည်၏ အချက်အချာ မြို့ကြီးတစ်မြို့ဖြစ်သော 'ဆွာန်အာ'မြို့တွင် ငွေကြေးအမြောက်အမြား အကုန်အကျခံ၍ ခရစ်ယာန် ဝတ်ကျောင်းတစ်ကျောင်းကို အလွန်ကြီးကျယ် ခမ်းနားစွာ တည်ဆောက်ခဲ့လေသည်။ သို့ထည်ဝါခံ့ညားစွာ တည်ဆောက်ခဲ့သော်လည်း အရဗ်တို့သည် ရှေးယခင်အစဉ်အလာအတိုင်း မက္ကာမြို့တော်ရှိ ကအ်ဗဟ် ကျောင်းတော်သို့သာ သွားရောက် ဟဂ်ျပြုခဲ့ကြလေသည်။ အဗ်ရဟာဟ်၏ ဝတ်ကျောင်းသို့ကား မည်သူမျှ မသွားခဲ့ပေ။ ဤသည့်အဖြစ်ကို အဗ်ရဟာဟ်တွေ့မြင်သောအခါ ခဲလေသမျှ သဲရေကျ ဖြစ်ခဲ့လေသည်။ ကျိတ်မနိုင်ခဲမရ ဖြစ်ခဲ့လေသည်။

အဗ်ရဟာဟ်၏ ယုတ်မာသော အကြံအစည်ကို အရဗ်လူမျိုးများ အထူးသဖြင့် ကုရိုက်ရှ် မျိုးနွယ်ဝင်တို့ သိရှိသွားကြသောအခါ လွန်စွာ အမျက်ထွက်ခဲ့ကြ၏။ တစ်နေ့သော် တစ်ဦးတစ်ယောက်သောသူသည် ဒေါသအမျက်ထွက်ကာ အဗ်ရဟာဟ်ကျောင်းတွင် သွားရောက်ပြီး ကျင်ကြီး၊ ကျင်ငယ် စွန့်ထားလိုက်လေ၏။ အခြားအဆိုတစ်ရပ်အရ အချို့အရဗ်များ မီးမွေးရာမှ မီးပွားစင်ပြီး အဗ်ရဟာဟ်၏ကျောင်းသည် မီးလောင်သွားခဲ့လေသည်။

ထိုအခါ အဗ်ရဟာဟ်သည် ဒေါသအမျက် ခြောင်းခြောင်းထွက်ကာ တုံ့ပြန်လက်စားချေလိုသည့် စိတ်ဖြင့် မက္ကာမြို့ရှိ ကအ်ဗဟ်ကျောင်းတော်ကို ဖြိုဖျက်ချေမှုန်းရန်အတွက် စစ်သည်ဗိုလ်ခြေ အမြောက်အမြားကို မိမိကိုယ်တိုင်ဦးစီး၍ ဆင်တပ်ကြီးဖြင့် မက္ကာမြို့တော်သို့ ဦးတည်ချီတက်လာခဲ့ပေသည်။ လမ်းခရီးတွင် ခုခံတိုက်ခိုက်သော အရဗ်အုပ်စုများကိုလည်း ချေမှုန်းခဲ့လေသည်။

ထိုအချိန်တွင် ကုရိုက်ရှ်မျိုးနွယ်၏ ဥက္ကဋ္ဌနှင့် ကအ်ဗဟ်ကျောင်းတော် ဂေါပကအဖွဲ့ ဥက္ကဋ္ဌမှာ တမန်တော်မြတ်၏ဘိုးတော် အဗ်ဒုလ်မွတ္တလစ်ဗ် ဖြစ်ခဲ့လေသည်။ ဘိုးတော် အဗ်ဒုလ်မွတ္တလစ်ဗ်သည် အဗ်ရဟာဟ်၏ အကြံအစည်ကို ရိပ်စားမိသောအခါ မိမိ၏အမျိုးသားတို့အား "အမျိုးသားတို့၊ အသင်တို့သည် မိမိတို့ကိုယ်ကိုသာ လွတ်မြောက်ရာ လွတ်မြောက်ကြောင်း ကြိုးပမ်းကြကုန်လော့၊ ကအ်ဗဟ်ကျောင်းတော်ကိုမူ ကျောင်းတော်၏ အရှင်သခင်ကိုယ်တော်တိုင် ကာကွယ်ထိန်းသိမ်း စောင့်ရှောက်တော်မူလိမ့်မည်ဟု ပြောကြားလိုက်လေသသည်။

အဗရ်ဟာဟ်သည် မက္ကာမြို့တော်အနီးသို့ ရောက်လာပြီး ခုခံကာကွယ်တိုက်ခိုက်သူ တစ်ဦးတစ်ယောက်မျှ မရှိ၊ အနှောင့်အယှက် တစ်စုံတစ်ရာမျှမရှိ၊ လမ်းသာယာလျက်ရှိသည်ကို တွေ့မြင်ရသောအခါ ယခုမူ ငါသည် ကအ်ဗဟ်ကျောင်းတော်ကို အလွယ်တကူ ဖြိုဖျက်ချေမှုန်းနိုင်တော့မည်ဟု ယုံကြည်လာခဲ့ပေသည်။

ယင်းသို့ဖြင့် အဗ်ရဟာဟ်သည် မိမိ စစ်သည်ဗိုလ်ခြေများနှင့်အတူ မက္ကာမြို့အနီးရှိ ဝါဒီမုဟတ်စ္စရ်သို့ ရောက်ရှိလာသောအခါ အလ္လာဟ်အရှင်မြတ်၏ တန်ခိုးတော်ဖြင့် ပင်လယ်(နီ)ဘက်မှ ငှက်ကလေးများသည် အုပ်လိုက်အုပ်လိုက် ပျံဝဲလာခဲ့ကြလေသည်။ အဆိုပါ ငှက်ကလေးများသည် မိမိတို့၏ နှုတ်သီးနှင့် ➤➤

# ကုရိုက်ရှ်မျိုးနွယ်ကဏ္ဍ

سُورَةُ قُرَيْشٍ

ဤကဏ္ဍသည် 'ကုရိုက်ရှ်' မျိုးနွယ်အကြောင်း ပါဝင်သော ကဏ္ဍမည်၏။ မက္ကာမြို့တော်၌ ကျရောက်ခဲ့၏။ ဤကဏ္ဍတွင် အာယတ်တော် (၄)ပါး ပါရှိ၏။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ ○

မပြတ်မစဲ သနားကြင်နာ ညှာတာတော်မူသော၊ မဟာကရုဏာတော်ရှင် ဖြစ်တော်မူသော အလ္လာဟ်အရှင်မြတ်၏နာမံတော်ဖြင့် အစပြုပါ၏။

لِاِیْلٰفِ قُرَیْشٍ ①

၁။ "ကုရိုက်ရှ်" အမျိုးသားတို့၌ အလေ့အထရှိကြသောကြောင့်။

اٖلٰفِهِمْ رِحْلَةَ الشِّتَآءِ وَالصَّیْفِ ②

၂။ ထို "ကုရိုက်ရှ်" အမျိုးသားတို့သည် ဆောင်းဥတု၌လည်းကောင်း၊ နွေဥတု၌လည်းကောင်း၊ (မိမိတို့) ခရီးထွက်လေ့ရှိကြသောကြောင့်။

فَلْیَعْبُدُوْا رَبَّ هٰذَا الْبَیْتِ ③

၃။ သို့ဖြစ်ပေရာ ၎င်းတို့သည် ဤအိမ်တော် (ကအ်ဗဟ် ကျောင်းတော်)၏အရှင်မြတ်အား ဆည်းကပ် ကိုးကွယ်ကြရာကုန်၏။

---

➤➤ ခြေထောက်များတွင် ကျောက်စရစ်ခဲများကို အသီးသီးချီလာခဲ့ကြလေသည်။ ထိုငှက်ကလေးများသည် အဗ်ရဟာဟ်၏ စစ်သည်များ ပေါ်သို့ မိမိတို့ချီလာခဲ့ကြသော ကျောက်စရစ်ခဲ များဖြင့် မိုးရွာသွန်းချခဲ့ကြလေသည်။ အလ္လာဟ်အရှင်မြတ်၏ တန်ခိုးတော်ဖြင့် အဆိုပါ ကျောက်စရစ်ခဲများသည် ထိမှန်သူ အားလုံးတို့အား ဤမှာဘက်မှ ထိုမှာဘက်သို့ ထုတ်ချင်းခတ် ထိုးဖောက်ပြီး ပြင်းထန်သော အဆိတ်အတောက်များကို ဖြစ်ပွားစေခဲ့လေသည်။ ထိုအခါ အဗ်ရဟာဟ်၏ စစ်သည်များအနက် မြောက်မြားစွာသော စစ်သည်များသည် ထိုနေရာမှာပင် သေကြေပျက်စီး သွားခဲ့ကြလေသည်။ ထွက်ပြေးသွားသော စစ်သည်များသည်လည်း ကြီးမားသော ဘေးဒုက္ခ အမျိုးမျိုး ခံစားကြရပြီး နောက်ဆုံးတွင်မူ အသေဆိုးနှင့် သေကြေပျက်စီးသွားခဲ့ကြလေသည်။

ဤသည့်အဖြစ်အပျက်သည် တမန်တော်မြတ် မီးရှူးသန့်စင် မဖွားမြင်မီ ရက်ပေါင်း (၅၀)တွင် ဖြစ်ခဲ့လေသည်။ အချို့သောအဆိုအရ ထိုနေ့မှာပင် တမန်တော်မြတ် မီးရှူးသန့်စင် ဖွားမြင်တော်မူခဲ့လေသည်။

အဆိုပါ ဆင်တပ်၏ဖြစ်ရပ်သည် အလွန်ကျော်ကြားသော အကြောင်းတစ်ရပ် ဖြစ်ခဲ့ပေသည်။ အရဗ်တို့သည် ထိုဖြစ်ရပ်ကို အကြောင်းပြုပြီး အဆိုပါနှစ်ကို "အာမုလ်ဖီလ်" ဆင်နှစ်ဟူ၍ပင် ခေါ်ဝေါ် သမုတ်ခဲ့ကြလေသည်။ မိမိတို့ ခုနှစ်သက္ကရာဇ်ကိုလည်း ထိုသည့်ဖြစ်ရပ်မှပင် စတင်ရေတွက်ခဲ့ကြလေသည်။

ကြည့်-မာဂျိဒီ။

الَّذِیۡۤ اَطۡعَمَهُمۡ مِّنۡ جُوۡعٍ ۬ۙ وَّ اٰمَنَهُمۡ مِّنۡ خَوۡفٍ ۝٤

၄။ အကြင်အရှင်မြတ်သည် ၎င်းတို့အား ဆာလောင် မွတ်သိပ်သောအခါ၌ (တစ်နည်း) ဆာလောင် မွတ်သိပ်ခြင်းမှ ကင်းလွတ်ရန် အာဟာရ ကျွေးမွေးတော်မူခဲ့၏။ ထိုမှတပါး ၎င်းတို့အား စိုးရိမ်သောအခါ၌ (တစ်နည်း) စိုးရိမ်မှု ဘေးရန်ကင်းငြိမ်းစေတော်မူခဲ့ပေသတည်း။ [၁]

---

(၁) **ကုရိုက်ရှ်မျိုးနွယ်အပေါ် အလ္လာဟ်၏ ကျေးဇူးတော်။**

မက္ကာမြို့တော်တည်ရာအရပ်မှာ မိုးခေါင်ရေရှားအရပ် ဖြစ်ခဲ့သည်။ သွေ့ခြောက်လွန်းလှသဖြင့် စားနပ်ရိက္ခာ အလွန်ခေါင်းပါးခဲ့သည်။ ကောက်ပဲသီးနှံပေါက်ရောက်သည် မရှိခဲ့ပေ။ ထို့အတွက် ကုရိုက်ရှ်မျိုးနွယ်ဝင်များသည် ကူးသန်းရောင်းဝယ် ဖောက်ကားရန်အတွက် တစ်နှစ်လျှင်နှစ်ကြိမ် တိုင်းတပါးသို့ ခရီးထွက်လေ့ရှိခဲ့ကြသည်။ ဆောင်းဥတု၌ ယမန်ပြည်သို့ ခရီးထွက်လေ့ရှိခဲ့ကြသည်။ ယမန်ပြည်သည် ပူသည်။ နွေဥတု၌ ဆီးရီးယားပြည်သို့ ခရီးထွက်လေ့ရှိခဲ့ကြသည်။ ဆီးရီးယားပြည်သည် အေးသည်။ စည်ပင်သာယာဝပြောသည်။ လူများသည်လည်း ကုရိုက်ရှ်မျိုးနွယ်ဝင်များအား ကျောင်းတော်သူ ကျောင်းတော်သားများ၊ ကျောင်းတော်၏ ဝေယျာဝစ္စ ဆောင်ရွက်သူများ ဖြစ်ကြသည်ကို ထောက်ထားကာ လွန်စွာ ရိုသေလေးစားခဲ့ကြသည်။ ဂုဏ်ပေးခဲ့ကြသည်။ ပြုစုခဲ့ကြသည်။ ၎င်းတို့၏ အသက်စည်းစိမ်ဥစ္စာ ပစ္စည်းများကို ကာကွယ် စောင့်ရှောက်ပေးခဲ့ကြသည်။ ၎င်းတို့အား အနည်းငယ်စိုးစဉ်းမျှပင် အနှောင့်အယှက်မပေးခဲ့ကြပေ။ ထို့အတွက်ကြောင့်လည်း ကုရိုက်ရှ်မျိုးနွယ်ဝင်များသည် သွားလေရာအရပ်၌ အေးချမ်းသာယာစွာ ဝင်ထွက်သွားလာနေနိုင်ခဲ့ကြပေသည်။ အမြတ်အစွန်းလည်း ကောင်းစွာရရှိခဲ့ကြပေသည်။ ခလုတ်မထိဆူးမငြိဘဲ မိမိတို့မြို့ရွာသို့ ပြန်လာကြပြီး၊ အေးချမ်းသာယာ ဖောသီစွာ စားဝတ်နေထိုင်နိုင်ခဲ့ကြပေသည်။

ထိုခေတ်ထိုအခါတွင် ကျောင်းတော်၏ပတ်ဝန်းကျင်၌ပင် လုယက်တိုက်ခိုက်မှုများသည် အကြီးအကျယ်ဖြစ်ပွားလျက် ရှိခဲ့ပေသည်။ သို့တစေလည်း ကျောင်းတော်ကို ရိုသေလေးစား ထောက်ထားသောအားဖြင့် မည်သူတစ်ဦးတစ်ယောက်မျှပင် ကုရိုက်ရှ်မျိုးနွယ်ဝင်တို့အား ဒုက္ခမပေးခဲ့ပေ။ ဤသည် အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်ပင်။ ကုရိုက်ရှ်မျိုးနွယ်ဝင်များသည် ဤသည့်ကျောင်းတော်၏ကျေးဇူးကြောင့်ပင် အေးချမ်းသာယာစွာ ကူးသန်းရောင်းဝယ် ဖောက်ကားနိုင်ခဲ့ကြပေသည်။ များစွာသော အမြတ်အစွန်းများ ရရှိခဲ့ကြပေသည်။ ဖောဖောသီသီ စားသုံးနေနိုင်ခဲ့ကြပေသည်။ ဘေးရန်ဝိုင်းလျက်ရှိသည့်စပ်ကြားမှပင် အေးချမ်းသာယာစွာ နေနိုင်ခဲ့ကြပေသည်။

ဤသည့် ကျောင်းတော်၏ကျေးဇူးကြောင့်ပင် ၎င်းတို့သည် ဆင်တပ်ရှင်များ၏ ဘေးရန်မှ လွတ်မြောက်လာခဲ့ကြပေသည်။ သို့ဖြစ်ပေရာ ကုရိုက်ရှ်မျိုးနွယ်ဝင်များသည် ကျေးဇူးသိတတ်သောအားဖြင့် ဤကျောင်းတော်ရှင်အား ဆည်းကပ်ကိုးကွယ်ကြရာသည်။ ဤကျောင်းတော်ရှင် စေလွှတ်တော်မူလိုက်သော တမန်တော်မြတ်အားလည်း နာခံကြရာသည်။ ယခုမူ ၎င်းတို့သည် ကျေးဇူးတော်ရှင်အား ကျေးစွပ်လျက်ရှိကြသည်။ ထိုအရှင်မြတ်၏ တမန်တော်မြတ်အား သွေဖည်ကျောခိုင်းလျက် ရှိကြသည်။ မဖွဲ့နွဲ့ရာယ်ပြုလျက် ရှိကြသည်။ ဤကား လွန်စွာ ကျေးဇူးမသိတတ်ခြင်း၊ ကျေးဇူးကန်းခြင်းပင်။ ကျေးဇူးကန်းသောသူသည် နောက်ဆုံးတွင် မိမိကျေးဇူးကန်းမှု၏ အကျိုးကို မရှုမလှခံစားရသည်သာတည်း။ သို့အတွက် လူသားသည် ကျေးဇူးသိတတ်ရာသည်။ ➤➤

## အသေးအဖွဲ ကဏ္ဍ



ဤကဏ္ဍသည် "မာအူန်" အသေးအဖွဲ အကြောင်း ပါဝင်သောကဏ္ဍမည်၏။
မက္ကာမြို့တော်၌ ကျရောက်ခဲ့၏။ ဤကဏ္ဍတွင် အာယတ်တော် (၇)ပါး ပါရှိ၏။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ

မပြတ်မစဲ သနားကြင်နာ ညှာတာတော်မူသော
မဟာကရုဏာတော်ရှင်ဖြစ်တော်မူသော
အလ္လာဟ်အရှင်မြတ်၏နာမံတော်ဖြင့် အစပြုပါ၏။

أَرَءَيْتَ الَّذِي يُكَذِّبُ بِالدِّينِ ①

၁။ အသင်သည် အစားပေးခြင်း(၏နေ့)ကို မဟုတ်မမှန်ဟူ၍ ငြင်းပယ်သောသူအား မမြင်ခဲ့လေသလော။

فَذٰلِكَ الَّذِي يَدُعُّ الْيَتِيمَ ②

၂။ ထိုသူပင် ဘမဲ့ကလေးသူငယ်အား တွန်းထုတ်သောသူဖြစ်၏။

---

➤➤ တတ်စွမ်းနိုင်သမျှ ကျေးဇူးတုံ့ပြန်ရာသည်။ ကျေးဇူးမကန်းရာ။

**"ကုရိုက်ရှ်"**

"ကုရိုက်ရှ်"သည် အာရေဗျပြည်ရှိမျိုးနွယ်များတွင် အမွန်ရည်ဆုံး အကျော်ကြားဆုံး မျိုးနွယ်တစ်ခု၏ အမည်ဖြစ်သည်။ ထိုမျိုးနွယ်၏မျိုးနွယ်စုတစ်ခုမှာ "ဗနီဟာရှင်မ်" ဟာရှင်မ်၏မျိုးနွယ်စုဖြစ်သည်။ တမန်တော်မြတ်မုဟမ္မဒ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် "ဗနီဟာရှင်မ်" မျိုးနွယ်စုမှပင် ဖြစ်တော်မူ၏။

တမန်တော်မြတ်၏ဘိုးဘေးများတွင် ဖိဟ်ရ်အိုဗ်နုမာလိက်လည်း တစ်ဦးပါဝင်၏။ ဖိဟ်ရ်၏ဘွဲ့နာမည်မှာ "ကုရိုက်ရှ်" ဟူ၍ဖြစ်၏။ ဤမျိုးနွယ်သည် ထိုသည့်ဘွဲ့နာမည်ဖြင့်ပင် ကျော်ကြားလာခဲ့ပေသည်။ ကြည့်-အိဗ်နုဟိရှာမ်။

ကုရိုက်ရှ်မျိုးနွယ်သည် ကအ်ဗဟ်ကျောင်းတော်၏ ဂေါပကများလည်း ဖြစ်ခဲ့ကြသည်။ ကူးသန်းရောင်းဝယ်ရေးအတွက် အလွန်ဝေးလံသော တိုင်းပြည်များသို့ ခရီးထွက်လေ့ရှိခဲ့ကြပေသည်။ ရောင်းဝယ်ဖောက်ကားရာတွင်လည်း အလွန်ရိုးသား ဖြောင့်မြတ်တည်ကြည် သန့်ရှင်းပေပြစ်ခဲ့ကြပေသည်။ ထို့ပြင်တဝ ကုရိုက်ရှ်မျိုးနွယ်ဝင်များသည် မိမိတို့ခေတ်တွင် တိုင်းပြည်လူမျိုးနှင့် ယဉ်ကျေးမှုကို ထိန်းသိမ်းထားနိုင်ခဲ့ကြသော အကြီးအကဲများလည်း ဖြစ်ခဲ့ကြပေသည်။

وَلَا يَحُضُّ عَلٰى طَعَامِ الْمِسْكِيْنِ ۝٣

၃။ ၎င်းပြင် ထိုသူသည် သူဆင်းရဲတို့အား အစား အစာကျွေးမွေးရန် တိုက်တွန်း နှိုးဆော်ခြင်းလည်း မပြုပေ။ [၁]

فَوَيْلٌ لِّلْمُصَلِّيْنَ ۝٤

၄။ သို့ဖြစ်ပေရာ (အကြင်သို့သော) ဆွလာတ် ဝတ်ပြုသူတို့၌ အကြီးအကျယ် ပျက်စီးခြင်းသည်ရှိ၏။

الَّذِيْنَ هُمْ عَنْ صَلَاتِهِمْ سَاهُوْنَ ۝٥

၅။ ထိုသို့သောသူတို့သည် မိမိတို့၏ ဆွလာတ် ဝတ်ပြုမှု(တာဝန်)ကိုပင် မေ့လျော့ထားကြကုန်၏။

الَّذِيْنَ هُمْ يُرَآءُوْنَ ۝٦

၆။ အကြင်(ဆွလာတ်ဝတ်ပြု)သူတို့သည် (မိမိ တို့၏ ဆွလာတ်ဝတ်ပြုမှုစသော ကောင်းမှုများကို) ပြစားကြကုန်၏။ [၂]

---

(၁) ဤအာယတ်တော်တွင်ပါရှိသော "ဒီန်" ဟူသောပုဒ်၏ အလိုသဘောမှာ အချို့၏ယူဆချက်အရ သာသနာပင် ဖြစ်၏။ ဆိုလိုသည်ကား အကြင်သူများသည် မှန်ကန်သော အစ္စလာမ်သာသနာကိုပင် မဟုတ်မမှန်ဟု ဆိုကြ၏။ ၎င်းတို့၌ ဘာသာ၊ သာသနာသည် အချည်းနှီး အလဟဿဖြစ်သော အရာသာဖြစ်၏။ ထိုသို့သော ဘာသာမဲ့များသည် တရားသဖြင့် အဆုံးအဖြတ် ပေးခြင်းခံကြရမည်မဟုတ်၊ အလ္လာဟ်အရှင်မြတ်ထံတော်မှ ကောင်းကျိုးဆိုးပြစ်များ ခံကြရမည်မဟုတ်ဟူ၍ ထင်မှတ်နေကြလေသလော။

"ဒီန်" ဟူသောပုဒ်သည် အစားပေးခြင်း၊ အနက်လည်း ပေးသည်။ ဤသည်ကိုထောက်၍ အချို့က ဤအာယတ်တော်တွင်ပါရှိသော "ဒီန်"ဟူသောပုဒ်ကို အစားပေးသည့်နေ့ဟူ၍ အနက်ဖွင့်ကြသည်။

ကြည့်-ထာနဝီ၊ မာဂျီဒီ။

မည်သို့ပင်ရှိစေ၊ ထိုသို့မှန်ကန်သော သာသနာကို မယုံကြည်သော၊ တစ်နည်း-အစားပေးမည့်နေ့ကို မယုံကြည်သော ဘာသာမဲ့တို့သည် လူအချင်းချင်း စောင့်သိရှိသေအပ်သော တာဝန်များကို မထောက်ထားကြပေ။ ခိုကိုးရာမဲ့ဖြစ်နေကြရရှာသော မိဘမဲ့ကလေးများကို စာနာထောက်ထား သနားကြင်နာကြရမည့်အစား ရိုင်းပြ ခက်ထန် မာကျောစွာ ဆက်ဆံကြပေသည်။ စားရမဲ့မဲ့ သောက်ရမဲ့မဲ့ ဖြစ်နေကြရှာသော ဆင်းရဲနွမ်းပါးသူများအား မိမိတို့ကိုယ်တိုင်က ကူညီထောက်ပံ့ရန်ဝေးစွ၊ သူတပါးတို့အားလည်း မတိုက်တွန်းကြပေ။ မိမိကိုယ်တိုင်လည်း သူတပါးအကျိုးကို မဆောင်ကြဉ်းကြပေ။ အခြားသူများကိုလည်း မတိုက်တွန်းကြပေ။

ခိုကိုးရာမဲ့ကလေးများအား သနားကြင်နာရမည့်အကြောင်းနှင့် ဆင်းရဲနွမ်းပါးသူများအား ကူညီ ထောက်ပံ့ရမည့်အကြောင်းသည် ဘာသာတိုင်းလိုလိုမှာပင် ပါရှိသည်။ ဤသည့်အချက်ကို ကမ္ဘာ့ ပညာရှင် အသီးသီးတို့ကလည်း ခြွင်းချက်မရှိ ထောက်ခံကြသည်။ သို့ဖြစ်ပါလျက် အကြင်သူတစ်ဦးသည် လူအချင်းချင်း ရှိအပ်သည့် အခြေခံ ကိုယ်ကျင့်တရား ဂုဏ်သိက္ခာနှင့်ပင် ကင်းမဲ့နေပါသော် ထိုသို့သောသူသည် လူမဟုတ်၊ တိရစ္ဆာန်ပင်ဖြစ်ပေမည်။ လူ့သိက္ခာနှင့် ကင်းကွာနေသောသူများသည် သာသနာကို အသို့လျှင် လေးစားအံ့နည်း။ အလ္လာဟ်အရှင်မြတ်အား အသို့လျှင် ယုံကြည်မြတ်နိုးကြကုန်အံ့။

وَيَمْنَعُونَ الْمَاعُونَ ۝٧

၇။ ထိုမှတပါး ၎င်းတို့သည် အသေးအဖွဲ့ အသုံးအဆောင် ပစ္စည်းများကိုပင် (သူတစ်ပါးတို့အား ငှားရမ်းခြင်း မပြုရန်) ပိတ်ပင် တားမြစ်ကြကုန်သတည်း။ [၁]

---

(၂) အချို့သူများသည် အမြင်အားဖြင့်ကား ဆွလာတ်ပြုကြ၏။ သို့ရာတွင် ဆွလာတ်ဝတ်ပြုရာ၌ ငါတို့သည် မည်သည့်အရှင်မြတ်အား ရည်စူးကြသည်။ ဆွလာတ်၏ ရည်ရွယ်ချက်မှာ အဘယ်အရာဖြစ်သည်။ ဆွလာတ်သည် အဘယ်မျှအရေးကြီးသည်။ အဘယ်မျှ ရှိသေလေးစားစွာ ဆောက်တည်ရသည်များကိုမှ မစဉ်းစားမဆင်ခြင်ကြပေ။ ၎င်းတို့သည် ဆွာလတ်ဝတ်ပြုမှုကို မလေးစားကြပေ။ တစ်ခါတစ်ရံ စိတ်လိုက ဆွလာတ်ဝတ်ပြုကြ၏။ တစ်ခါတစ်ရံ စိတ်မလိုက ဆွလာတ်ဝတ်မပြုဘဲနေကြ၏။ တစ်ခါတစ်ရံ လောကီရေး စကားများတွင် အချိန်ဖြုန်းတီးပြီး ဆွလာတ်အချိန်ကို ကျဉ်းမြောင်းစေကြ၏။

ထိုသို့သောသူများသည် အမြင်အားဖြင့် ဆွလာတ်ဝတ်ပြုကြသော်လည်း ၎င်းတို့၏ ဆွာလာတ်ဝတ်ပြုခြင်းမှာ ပြစားရန်အတွက် သာမန် ဝတ်ကျေဝတ်ကုန်သဘောမျိုးဖြင့် ထိုင်ထပြုခြင်းမျှသာ ဖြစ်၏။ ငါတို့သည် မည်သည့် အရှင်မြတ်၏ရှေ့တော်၌ ရပ်နေကြသည်ကိုပင် သတိမမူကြပေ။ အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့၏ ထိုင်ထ ဦးညွှတ် ဦးချခြင်းကိုသာ ကြည့်တော်မူသည်။ ၎င်းတို့၏စိတ်နှလုံးများနှင့် ၎င်းတို့၏စေတနာများကို ကြည့်တော်မမူဟူ၍များ ထင်မှတ်နေကြလေသလော။ ဆွလာတ်ဝတ်ပြုရာ၌ ဤသို့ အပေါ့တဆလုပ်သူများ၊ ဝတ်ကျေဝတ်ကုန် ဆွလာတ်ဝတ်ပြုသူများ၊ စိတ်စေတနာမပါ၊ ပေါ့တန်စွာလူမြင်ရုံသာ ဆွလာတ်ဝတ်ပြုသူများ အားလုံးတို့သည် ဤအာယတ်တော်တွင် အကျုံးဝင်ကြပေသည်။ ထိုသို့သောသူများသည် ပျက်စီးကြရမည်သာတည်း။

(၁) ထိုသို့သောသူများသည် ဇကာတ်ပေးရန်နှင့် အခြားအလှူဒါနများ ပြုလုပ်ရန်ဝေးစွ၊ အိမ်နီးချင်းများ တစ်အိမ်နှင့်တစ်အိမ်၊ တစ်ဦးနှင့်တစ်ဦး ငှားရမ်းလေ့ရှိသော၊ ပေးလေ့ရှိသော သာမန်အသုံးအဆောင်များဖြစ်သည့် ရေပုံး၊ ကြိုး၊ အိုး၊ ခွက်၊ ပန်းကန်၊ ပုဆိန်၊ အပ်ချည်၊ ဆား၊ မီးခြစ်စသည့် အသေးအဖွဲ့များကိုပင် မပေးလိုကြပေ။ မငှားရမ်းလိုကြပေ။ သာမန် အသေးအဖွဲ့များတွင်ပင် ဤရွေ့ဤမျှ စေးနဲနေကြလျှင်၊ တွန့်တိုနေကြလျှင်၊ ပြစားရန်အတွက် ဆွလာတ်ပြုခြင်းဖြင့် အသို့လျှင် အကျိုးရှိအံ့နည်း။

လူတစ်ယောက်သည် မိမိကိုယ်ကို "မုဆွလ္လီ" - "နမာဇီ" ဟု ဆို၏။ ခေါ်တွင်စေ၏။ သို့ရာတွင် အလ္လာဟ်အရှင်မြတ်နှင့်ပတ်သက်၍ကား အနည်းငယ်စိုးစဉ်းမျှ စေတနာသဒ္ဓါတရားမရှိ။ ထိုအရှင်မြတ်ဖန်ဆင်းထားတော်မူသော လူသားတို့အား မစာနာ မထောက်ထား မလေးစားပေ။ သို့ဖြစ်ရာ ထိုသို့သောသူ၏ အစ္စလာမ်သည် အဘယ်မှာလျှင် အဓိပ္ပာယ်ရှိအံ့နည်း။ ထိုသို့သောသူ၏ ဆွလာတ်သည် အသို့လျှင် အကျိုးသက်ရောက်အံ့နည်း။ အချည်းနှီးသာဖြစ်ချိမ့်မည်။ ဤသို့သော ပြစားမှု၊ စိတ်စေတနာ မဖြူစင်မှု၊ လူစိတ်ကင်းမှု၊ ဆင်းရဲနွမ်းပါးသူတို့အား မစာနာမထောက်ထား၊ မလေးစားမှု စိတ်ဓာတ်ခဲယဉ်းမှု၊ ညှံ့ဖျင်းမှု၊ စေးနဲမှုများသည် အလ္လာဟ်အရှင်မြတ်၏ တရားတော်နှင့် ကိယာမတ်နေ့ကို မယုံကြည်သော ဓမ္မန္တရာယ်များ၏ အကျင့်အမူ သာဖြစ်ရာချေသည်။

# ကောင်းခြင်းအမြောက်အမြားကဗ္ဗာ




ဤကဗ္ဗာသည် "အလ်ကောင်ဆရ်" ကောင်းခြင်းအမြောက်အမြား ကဗ္ဗာမည်၏။ မက္ကာမြို့တော်၌ ကျရောက်ခဲ့၏။ ဤကဗ္ဗာတွင် အာယတ်တော် (၃)ပါး ပါရှိ၏။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ

မပြတ်မစဲ သနားကြင်နာ ညှာတာတော်မူသော၊ မဟာကရုဏာတော်ရှင် ဖြစ်တော်မူသော အလ္လာဟ်အရှင်မြတ်၏နာမံတော်ဖြင့် အစပြုပါ၏။

إِنَّآ أَعْطَيْنٰكَ الْكَوْثَرَ ①

၁။ (အို-နဗီတမန်တော်) ဧကန်စင်စစ် ငါအရှင်မြတ်သည် အသင့်အား များပြားလှစွာသော ကောင်းခြင်းများကို ချီးမြှင့်ပေးသနားတော်မူခဲ့၏။ [၁]

فَصَلِّ لِرَبِّكَ وَانْحَرْ ②

၂။ သို့ဖြစ်ပေရာ အသင်သည် မိမိအား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်အား ရည်သန်၍ ဆွလာတ် ဝတ်ပြုပါလေ။ ထိုမှတပါး အသင်သည် (ထိုအရှင်မြတ်အား ရည်သန်၍ သားကောင်ကို) ကုရ်ဗာနီပြုပါလေ။ [၂]

---

(၁) **"ကောင်ဆရ်"။**

"ကောင်ဆရ်" ဟူသောပုဒ်၏ အဘိဓာန်အနက်မှာ 'ကောင်းခြင်းအမြောက်အမြား' ဟူ၍ဖြစ်၏။ မုဖတ်စ်စိရ်များသည် ယင်းပုဒ်ကို-

(၁) ဂျန္နတ်ရှိ "ကောင်ဆရ်" ရေကန်တော်ဟူ၍လည်းကောင်း၊

(၂) ကုရ်အာန်ကျမ်းမြတ်ဟူ၍လည်းကောင်း

(၃) တမန်တော်ဖြစ်ခြင်းကျမ်းဂန်၊ မှန်ကန်သောအသိဉာဏ်ဟူ၍လည်းကောင်း၊

(၄) တပည့်နောက်လိုက် များပြားခြင်းဟူ၍ လည်းကောင်း၊

(၅) ကောင်းခြင်းအမြောက်အမြားဟူ၍လည်းကောင်း၊

(၆) တမန်တော်မြတ်အား အလ္လာဟ်အရှင်မြတ်က သတ္တဝါအားလုံးတို့ထက် ပိုမိုထူးကဲစွာ ချီးမြှင့်ထားတော်မူသည့် တမန်တော်အဖြစ်၊ ကျမ်းဂန်၊ မှန်ကန်သော အသိဉာဏ်၊ ပညာ (ရှဖာအတ်) အသနားခံပေးခွင့်၊ 'ကောင်ဆရ်' ရေကန်တော်၊ (မကာမ်မတ်မူဒ်) ဂုဏ်ပြုရာဌာန၊ နောက်လိုက်တပည့် များပြားခြင်း၊ အစ္စလာမ် သာသနာနှင့် ထိုသည့်သာသနာကို အခြား သာသနာအားလုံးတို့ထက် ထင်ပေါ်ကျော်ကြားစေခြင်း၊ သိသာစေခြင်း၊ တမန်တော်မြတ်၏လက်ထက်တော်တွင်လည်းကောင်း၊



إِنَّ شَانِئَكَ هُوَ الْأَبْتَرُ ﴿٣﴾

၃။ စေကန်မလွဲ အသင်၏ရန်သူသည်သာလျှင် အညွန့်တုံးသူ ဖြစ်ချေသတည်း။ ¹

---

➤➤ တမန်တော်မြတ်၏နောက် ကိယာမတ်တိုင် ရန်သူများအား အောင်နိုင်ခြင်းစသည့် ထူးကဲမြင့်မြတ်များမြောင်လှသော ဂုဏ်ကျေးဇူးတော်များဟူ၍လည်းကောင်း၊ အနက်အမျိုးမျိုး ဖွင့်ဆိုကြပေသည်။
ကြည့်-ခါဇင်န်။

⑵ ကုရ်ဗာနီ။

ကျေးဇူးတော်ကြီးမားထူးကဲ မြင့်မြတ်သည်နှင့်အမျှ ကျေးဇူးတုံ့ပြန်မှုသည်လည်း ကြီးမားရမည်သာဖြစ်သည်။ ထို့အတွက် အလ္လာဟ်အရှင်မြတ်က တမန်တော်မြတ်သည် မိမိ၏ စိတ်ဖြင့်လည်းကောင်း၊ ကိုယ်ခန္ဓာဖြင့်လည်းကောင်း၊ ဥစ္စာပစ္စည်းဖြင့်လည်းကောင်း အလ္လာဟ်အရှင်မြတ်အား အမြဲတစေ ဝတ်ပြုလျက်ရှိနေရမည့်အကြောင်း မိန့်ကြားထားတော်မူခြင်း ဖြစ်သည်။

စိတ်နှင့်ဆိုင်သော်၊ ကိုယ်ခန္ဓာနှင့်ဆိုင်သော ဝတ်ပြုမှုများတွင် အကြီးဆုံး ဝတ်ပြုမှုမှာ "ဆွလာတ်" ပင်ဖြစ်သည်။ ဥစ္စာပစ္စည်းနှင့်ဆိုင်သော ဝတ်ပြုမှုများတွင် ကုရ်ဗာနီ ပြုလုပ်ခြင်းသည် အလွန် ထူးခြားသော ဝတ်ပြုမှုတစ်ရပ်ပင် ဖြစ်သည်။ အဘယ်ကြောင့်ဆိုသော် တမန်တော်အီဗ်ရာဟီမ်နှင့် သားတော် အစ္စမာအီလ်၏ အတ္ထုပ္ပတ္တိကို ကြည့်ရှုခြင်းအားဖြင့် ကုရ်ဗာနီ၏ မူလအစအခြေအမြစ်မှာ အသက်ဇီဝိန်ကို ကုရ်ဗာနီပြုခြင်းပင် ဖြစ်ခဲ့ပေသည်။ ထို့နောက်သော်မှ အချို့အကျိုးအကြောင်းများကိုထောက်ရှုကာ အသက်ကို ကုရ်ဗာနီပြုလုပ်ရမည့်အစား သားကောင်များကို ကုရ်ဗာနီပြုလုပ်ရန် သတ်မှတ်တော်မူလိုက်ခြင်း ဖြစ်ပေသည်။ ထို့အတွက်ကြောင့်ပင် ကုရ်အာန်ကျမ်းမြတ် (၆း၁၆၃-၁၆၄)တွင်လည်း ဆွလာတ်နှင့် ကုရ်ဗာနီကို ဒွန်တွဲ မိန့်ဆိုထားတော်မူသည်။

① အချို့ကာဖိရ်များက တမန်တော်မြတ်နှင့်ပတ်သက်၍ "ဤပုဂ္ဂိုလ်၌ သားယောကျ်ား တစ်ဦးတစ်ယောက်မျှ မရှိ၊ ဤပုဂ္ဂိုလ်၏အမည်သည် ဤပုဂ္ဂိုလ် အသက်ထင်ရှား ရှိနေစဉ်၌သာ တည်ရှိနေပေမည်။ ဤပုဂ္ဂိုလ် သေဆုံးပြီးနောက် ၎င်း၏အမည်ကို မည်သူတစ်ဦးတစ်ယောက်မျှ ထုတ်ဖော်သုံးစွဲမည်မဟုတ်၊ ဤပုဂ္ဂိုလ် သေဆုံးသည်နှင့်အမျှ ၎င်း၏အမည်သည်လည်း တိမ်မြှုပ် သွားပေမည်" ဟု မမှန်မကန် ပြောဆိုခဲ့ကြပေသည်။ အရဗ်စာပေ ဝေါဟာရတွင် ထိုသို့ ကျောထောက်နောက်ခံ အမွေဆက်ခံသူမရှိသော ပုဂ္ဂိုလ်မျိုးအား "အဗ်တရ်" ဟူ၍ ခေါ်ဝေါ် သုံးစွဲလေ့ ရှိကြသည်။

"အဗ်တရ်"၏ မူရင်းအနက်မှာ အမြီးပြတ်ဟူ၍ ဖြစ်သည်။ ဆိုလိုသည်ကား ဤပုဂ္ဂိုလ် အမြီးပြတ်သွားပြီ၊ အမွေဆက်ဆံသူ မရှိပြီ၊ အဆက်ပြတ်ပြီ၊ အညွန့်တုံးပြီ၊ အစတုံးပြီဟူ၍ဖြစ်သည်။ ဤအကြောင်းနှင့် စပ်လျဉ်း၍ ကုရ်အာန်ကျမ်းမြတ်တွင် တုံ့ပြန်ချေပ ဖြေရှင်းထားတော်မူသည်မှာ တမန်တော်မြတ်သည် "အဗ်တရ်" အလျင်းမဟုတ်၊ အစတုံး၊ အညွန့်တုံးမဟုတ်၊ တမန်တော်မြတ် အားယင်းသို့ ပြောဆိုသူများသည်သာလျှင် အစတုံးသူများဖြစ်ပေသည်။

အလ္လာဟ်အရှင်မြတ်သည် တမန်တော်မြတ်အား "ကောင်ဆရ်" ကို ချီးမြှင့်ထားတော် မူသည်။ ကောင်းခြင်းအမြောက်အမြားကို ပေးသနားထားတော်မူသည်။ သို့ဖြစ်ရာ တမန်တော်မြတ်၏ ကောင်းချီးသတင်းများသည် အမြဲထာဝစဉ် ပေါ်လွင်ထင်ရှား ကျော်ကြား၍နေမည်သာ ဖြစ်သည်။ တမန်တော်မြတ်အား "အဗ်တရ်"ဟူ၍ ဆိုခြင်းမှာ လွန်စွာမိုက်မဲခြင်းသာဖြစ်သည်။ အမှန်မှာ ထိုသို့သော တမန်တော်မြတ်အား ➤➤

➤➤ မလိုမုန်းတီး၍ မိမိနောက်တွင် မိမိနှင့်ပတ်သက်၍ တစ်စုံတစ်ရာ အကောင်းပြောဆိုမည့်သူ တစ်ဦးတစ်ယောက်မျှ မကျန်ရစ်ခဲ့သူ၊ မိမိနောက်တွင် သူငါအများ အမှတ်တရ ထုတ်ဖော်ပြောဆိုနိုင်ရန် ကောင်းမှုတစ်စုံတစ်ရာ မပြုခဲ့သူသာလျှင် "အဗ်တရ်" ဖြစ်ပေသည်။

တမန်တော်မြတ် ကွယ်လွန်သေဆုံးတော်မူခဲ့သည်မှာ ယခုဆိုသော် နှစ်ပေါင်း (၁၄၀၀) ကျော်လာခဲ့ပေပြီ။ ယင်းသို့ နှစ်ပရိစ္ဆေဒ ကြာညောင်းခဲ့ပြီဖြစ်သော်လည်း တမန်တော်မြတ်၏အမည်နာမသည် မတိမ်မြုပ်သည်သာမက တိုး၍တိုး၍သာ ကျော်ကြားထင်ရှားလျက် ရှိပေသည်။

တမန်တော်မြတ်၏ ဂုဏ်သတင်းမှာ တစ်နေ့ထက် တစ်နေ့ တိုးတက်ပျံ့နှံ့သင်းကြိုင်လျက်သာ ရှိပေသည်။ တမန်တော်မြတ်အား ယုံကြည်မြတ်နိုးသော နောက်လိုက် တပည့်သားတို့သည်လည်း ကမ္ဘာအရပ်ရပ်တွင် တစ်နေ့တစ်ခြား တိုးပွားများပြားလျက်သာ ရှိကြပေသည်။ တမန်တော်မြတ်၏ ဆွေတော်မျိုးတော်များမှာလည်း မြောက်မြားစွာသော နိုင်ငံများတွင် ရောက်ရှိပျံ့နှံ့လျက် ရှိကြပေသည်။

တမန်တော်မြတ် ယူဆောင်လာတော်မူခဲ့သော သာသနာတော်နှင့် တမန်တော်မြတ် စံပြအဖြစ် ကျင့်မူဆောက်တည်ထား တော်မူခဲ့သော လမ်းစဉ်များသည်လည်း ကမ္ဘာတစ်ဝန်း၌ နေရောင် လရောင်ပမာ ထွန်းတောက်လျက် ရှိပေသည်။ ထောင်ပေါင်းများစွာသော လူသားတို့သည်လည်း တမန်တော်မြတ်အား ချစ်ကြည် မြတ်နိုးလှသဖြင့် တမန်တော်မြတ်အား အခါခပ်သိမ်း အောက်မေ့တသ သတိရလျက်ရှိကြပေသည်။ မေတ္တာပို့သလျက် ရှိကြပေသည်။ တမန်တော်မြတ်၏ အံ့မဆုံးသည့် ကမ္ဘာ့အကျိုးပြုလုပ်ငန်းများကို တမန်တော်မြတ်အား ယုံကြည်သူများသာမက မယုံကြည်သူ များကပင်လျှင် ဝန်ခံထုတ်ဖော် ချီးမွမ်းလျက်ရှိကြပေသည်။

ထို့ပြင်တဝ နောင်တမလွန်ဘဝ၌ တမန်တော်မြတ်သည် "မကာမ်မဟ်မူဒ်" ကမ္ဘာ့ဂုဏ်ပြုရာဌာနတွင် ကမ္ဘာတစ်ဝန်း၏ ဂုဏ်ပြုခြင်းကိုလည်း ခံတော်မူရဦးမည်။ ဤသို့ ဤဘဝ၊ ထိုဘဝ နှစ်ဌာနလုံး၌ အမြဲထာဝစဉ် ကောင်းသတင်းကြိုင်လျက် ရှိတော်မူသော တမန်တော်မြတ်သည် အသို့လျှင် "အဗ်တရ်" (အညွန့်တုံး၊ အစတုံး) ဖြစ်တော်မူနိုင်အံ့နည်း။

ထိုသို့သော တမန်တော်မြတ်အား မပြောအပ်၊ မဆိုအပ် "အဗ်တရ်"ဟု မရှိမသေ မလေးမစား၊ မခန့်မညား ပြောဆိုခဲ့သူများမှာမူ ယနေ့ကမ္ဘာတွင် အညွန့်တုံး၊ အစတုံးဖြစ်ကာ အပျောက်ကြီး ပျောက်လျက်၊ အတိမ်ကောကြီး တိမ်ကောလျက်ရှိပေသည်။ ၎င်း၏အမည်ကို ကောင်းမြတ်သောစေတနာဖြင့် ထုတ်ဖော်ပြောဆိုမည့်သူ တစ်ဦးတစ်ယောက်မျှပင် မရှိချေပြီ။ ထို့အတူ နောက်နောင်တွင် တမန်တော်မြတ်အား ယင်းသို့ မရှိမသေ၊ မလေးမစား၊ မခန့်မညား ပြုလုပ်ပြောဆိုသူများသည်လည်း ထိုသူယုတ်ကဲ့သို့ပင် အညွန့်တုံး၊ အစတုံးဖြစ်ကြရမည်သာတည်း။

# မယုံကြည်သူများကဏ္ဍ

سُوْرَةُ الْكَافِرُوْنَ

ဤကဏ္ဍသည် (အလ်ကာဖိရူန) မယုံကြည်သူများ ကဏ္ဍမည်၏။ မက္ကာမြို့တော်၌ ကျရောက်ခဲ့၏။ ဤကဏ္ဍတွင် အာယတ်တော် (၆)ပါး ပါရှိ၏။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ ۝

မပြတ်မစဲ သနားကြင်နာ ညှာတာတော်မူသော၊ မဟာကရုဏာတော်ရှင် ဖြစ်တော်မူသော အလ္လာဟ်အရှင်မြတ်၏နာမံတော်ဖြင့် အစပြုပါ၏။

قُلْ يٰۤاَيُّهَا الْكٰفِرُوْنَ ۝١

၁။ (အို-နဗီတမန်တော်) အသင်သည် (ဤသို့) ပြောကြားပါလေ၊ အို-"ကာဖိရ်" ငြင်းပယ်သူအပေါင်းတို့။

لَاۤ اَعْبُدُ مَا تَعْبُدُوْنَ ۝٢

၂။ ငါသည် အသင်တို့ ကိုးကွယ်လျက်ရှိကြသော ကိုးကွယ်ရာများကို ကိုးကွယ် ဆည်းကပ်သည် မဟုတ်ပေ။

وَلَاۤ اَنْتُمْ عٰبِدُوْنَ مَاۤ اَعْبُدُ ۝٣

၃။ ၎င်းပြင် အသင်တို့သည်လည်း ငါ ကိုးကွယ်လျက်ရှိသော ကိုးကွယ်ရာကို ကိုးကွယ်ဆည်းကပ်ကြသူများ မဟုတ်ပေ။ [၁]

---

(၁) **တောင်ဟီဒ်နှင့် ရှိရ်က်၏ချစ်ကြည်မှု အလျင်းမဖြစ်နိုင်။**

ကုရိုက်ရှ်မျိုးနွယ်၏ အချို့အကြီးအကဲများက တမန်တော်မြတ်အား "အသင်သည် တစ်နှစ် ကျွန်ုပ်တို့၏ ကိုးကွယ်ရာများကို ဆည်းကပ်ကိုးကွယ်ပါလေ။ ဒုတိယနှစ်တွင် ကျွန်ုပ်တို့သည် အသင်၏ကိုးကွယ်ရာ အရှင်သခင်အား ဆည်းကပ်ကိုးကွယ်ကြပါမည်။ ဤသို့ဖြင့် အုပ်စုနှစ်ခုလုံးသည် အုပ်စုအသီးသီး၏ ဘာသာအယူဝါဒမှ နည်းများမဆို အကျိုးခံစားကြရမည်ဖြစ်သည်"ဟု ချစ်ကြည်ရေးစကား ပြောဆိုလာကြရာ၊ တမန်တော်မြတ်က "ဤသို့ အလျင်းမဖြစ်နိုင်၊ အကျွန်ုပ်သည် အလ္လာဟ်အရှင်မြတ်နှင့် တွဲဖက်၍ အခြားတစ်စုံတစ်ရာကို တစက္ကန့်မျှပင်လျှင် ယှဉ်တွဲ မကိုးကွယ်နိုင်ပါ"ဟု ဖြေကြားတော်မူလိုက်လေသည်။

ထိုအခါ ကုရိုက်ရှ်မျိုးနွယ်၏ အကြီးအကဲများက "သို့ဖြစ်လျှင်၊ အသင်သည် ကျွန်ုပ်တို့၏ အချို့ ကိုးကွယ်ရာများကို လက်ခံပါလေ။ (ထိုကိုးကွယ်ရာများကို ကဲ့ရဲ့ပြစ်တင် ပြောဆိုခြင်း မပြုပါလေနှင့်)။ ကျွန်ုပ်တို့သည် အသင့်အား ထောက်ခံယုံကြည်ပါမည်။ အသင်၏ ကိုးကွယ်ရာ အရှင်သခင်ကိုလည်း ဆည်းကပ် ကိုးကွယ်ကြပါမည်"ဟု တဖန် ပြောဆိုကြပြန်လေသည်။ ထိုအခါ ဤကဏ္ဍကျရောက်လာခဲ့လေသည်။ ➤➤

၄။ ထို့ပြင် ငါသည် အသင်တို့ ကိုးကွယ်ကြကုန်သော ကိုးကွယ်ရာများကို ကိုးကွယ်ဆည်းကပ်မည့်သူ မဟုတ်ပေ။

وَلَآ أَنَا۠ عَابِدٌ مَّا عَبَدتُّمْ ﴿٤﴾

၅။ ထိုနည်းတူစွာ အသင်တို့သည်လည်း ငါ ကိုးကွယ်သော ကိုးကွယ်ရာကို ကိုးကွယ်ဆည်းကပ်ကြမည့်သူများ မဟုတ်ပေ။

وَلَآ أَنتُمْ عَٰبِدُونَ مَآ أَعْبُدُ ﴿٥﴾

၆။ (စင်စစ်မှာကား) အသင်တို့အဖို့ အသင်တို့၏ အကျိုး၊ လမ်းစဉ်၊ သာသနာဖြစ်၍ ငါ၏အဖို့ ငါ၏ အကျိုး၊ လမ်းစဉ်၊ သာသနာပင်ဖြစ်ပေသည်။ ၁

لَكُمْ دِينُكُمْ وَلِىَ دِينِ ﴿٦﴾

➤➤ တမန်တော်မြတ်သည်လည်း ကျောင်းတော်တွင်းသို့ သွားရောက်၍ အသင့်ရောက်ရှိနေသော ကုရိုက်ရှ်မျိုးနွယ် အကြီးအကဲတို့အား ဤကဏ္ဍကို ရွတ်ဖတ်ပြတော်မူလိုက်လေသည်။

ဤကဏ္ဍ၏ အချုပ်သဘောမှာ– တောင်ဟီဒ်နှင့်ရှိရ်က်သည် ဖြောင့်ဖြောင့်ကြီး ဆန့်ကျင်သည်။ အဘယ်သောအခါ၌မျှ၊ မည်သည့်နည်းနှင့်မျှ ညှိနှိုင်းစေ့စပ်ချစ်ကြည်မှုပြုရန် အလျှင်းမဖြစ်နိုင်။ ဤကဏ္ဍတွင် ဤသည့်အကြောင်းကိုပင် အတိအလင်း ကြေညာထားတော်မူသည်။ တမန်တော်များ၏ အဓိကတာဝန်မှာ တောင်ဟီဒ်ကို ပေါ်လွင်ထင်ရှားစေရန်နှင့် ရှိရ်က်ကို အခြေအမြစ်မှ တော်လှန်ချေမှုန်းရန်ပင် ဖြစ်သည်။ သို့ဖြစ်ရာ တမန်တော်မြတ်သည် ကုရိုက်ရှ်မျိုးနွယ်အကြီးအကဲများ ပြောဆိုလာသော တောင်ဟီဒ်နှင့်ရှိရ်က်၏ ချစ်ကြည်ရေးစကားကို အသို့လျှင် လက်ခံတော်မူနိုင်အံ့နည်း။ အမှန်မှာ အလ္လာဟ်အရှင်မြတ်သာလျှင် ဆည်းကပ်ကိုးကွယ်ရာ အရှင်သခင် ဖြစ်တော်မူသည်။ ဤတွင် အကွဲအပြားမရှိ။ မုရှ်ရစ်က်များသည်ပင်လျှင် ဤသည့်အချက်ကို လက်ခံကြပေသည်။ ၎င်းတို့ကိုယ်တိုင်ကပင် "ရုပ်တုများကို ကျွန်ုပ်တို့ ဆည်းကပ်ကိုးကွယ်ခြင်း၏ အကြောင်းမှာ ယင်းရုပ်တုများသည် ကျွန်ုပ်တို့အား အလ္လာဟ်အရှင်မြတ်၏ထံတော်ပါးသို့ နီးကပ်ပေးစေရန်အတွက်သာလျှင်ဖြစ်သည်" ဟု ဖွင့်ဟပြောဆိုကြပေသည်။ ကြည့်-ကုရ်အာန် (၃၉း၃)။

ကွဲပြားမှုမှာ အလ္လာဟ်အရှင်မြတ်မှတပါး အခြားအရာများကို ဆည်းကပ်ကိုးကွယ်ခြင်း၌သာ ရှိပေသည်။ သို့ဖြစ်ပေရာ ကုရိုက်ရှ်မျိုးနွယ်၏ အကြီးအကဲများ တင်ပြသော ဘာသာအချင်းချင်း ညီညွတ်မှု၊ ချစ်ကြည်မှု၏ အချုပ်သဘောမှာ ကျွန်ုပ်တို့သည် မိမိတို့၏ကိုးကွယ်ရာများကို ယခင်အတိုင်း ဆက်လက်၍ အစဉ်တစိုက် ဆည်းကပ် ကိုးကွယ်လျက် ရှိကြမည်။ (ဝါ) အလ္လာဟ်အရှင်မြတ်ကိုလည်းကောင်း၊ ထိုအရှင်မြတ်မှတပါး အခြား ကိုးကွယ်ရာများကိုလည်းကောင်း၊ ဒွန်တွဲဆည်းကပ် ကိုးကွယ်လျက်ရှိကြမည်။ အသင် (တမန်တော်) သည် အလ္လာဟ်အရှင်မြတ် တပါးတည်းအား ဆည်းကပ်ကိုးကွယ်ခြင်းတည်းဟူသော တောင်ဟီဒ်တရားကို စွန့်ရမည်ဖြစ်သည်ဟူ၏။ ဤသည့်တောင်ဟီဒ်နှင့်ရှိရ်က်၏ ချစ်ကြည်ရေးစကားကို အလျှင်းလက်မခံကြောင်း ကြေညာရန်အတွက် ဤကဏ္ဍကျရောက်လာခဲ့ခြင်းဖြစ်သည်။

① ဆိုလိုသည်ကား ကျွန်ုပ်သည် 'တောင်ဟီဒ်'ကို မစွန့်နိုင်။ အသင်တို့သည် 'ရှိရ်က်'ကို မစွန့်နိုင်။ ➤➤

# အကူအညီကဏ္ဍ

سُوْرَةُ النَّصْرِ

ဤကဏ္ဍသည် 'အန္နတ်ဆွ်ရ်' အကူအညီမည်၏။ မဒီနာမြို့တော်၌ ကျရောက်ခဲ့၏။
ဤကဏ္ဍတွင် အာယတ်တော် (၃)ပါး ပါရှိ၏။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ ○

မပြတ်မစဲ သနားကြင်နာ ညှာတာတော်မူသော၊ မဟာကရုဏာတော်ရှင်ဖြစ်တော်မူသော အလ္လာဟ်အရှင်မြတ်၏နာမံတော်ဖြင့် အစပြုပါ၏။

اِذَا جَآءَ نَصْرُ اللّٰهِ وَالْفَتْحُ ①

၁။ (အို-နဗီတမန်တော်) အလ္လာဟ်အရှင်မြတ်၏ အကူအညီသည်လည်းကောင်း၊ အောင်နိုင်မှုသည်လည်းကောင်း၊ ရောက်ရှိခဲ့သောအခါ။

وَرَاَيْتَ النَّاسَ يَدْخُلُوْنَ فِيْ دِيْنِ اللّٰهِ اَفْوَاجًا ②

၂။ ၎င်းပြင် အသင်သည် လူတို့အား အလ္လာဟ်အရှင်မြတ်၏ "ဒီန်" သာသနာတော်၌ အသင်းလိုက် အဖွဲ့လိုက် ဝင်ရောက်လျက် ရှိကြသည်ကို တွေ့မြင်သောအခါ။ [၁]

فَسَبِّحْ بِحَمْدِ رَبِّكَ وَاسْتَغْفِرْهُ ۚ اِنَّهٗ كَانَ تَوَّابًا ③

၃။ (ထိုအခါ) အသင်သည် မိမိအား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်ကို ချီးမွမ်းထောပနာပြုခြင်းအားဖြင့် (ထိုအရှင်မြတ်) စင်ကြယ်သန့်ရှင်းတော်မူကြောင်း မြွက်ဆိုပါလေ။ ထို့မှတပါး အသင်သည် ထိုအရှင်မြတ်အထံတော်၌ လွတ်ငြိမ်းချမ်းသာခွင့်ကို ပန်ကြားအသနားခံပါလေ။

---

(၁) ဤအာယတ်တော်တွင် အောင်နိုင်မှုသည် အာရေဗျပြည်နယ်၏ ဗဟိုချက်မမြို့တော်ဖြစ်သော မက္ကာမြို့တော်ကို တမန်တော်မြတ် ပြန်လည်အောင်နိုင်ခြင်းကို ဆိုလိုသည်။ များစွာသော အရဗ်မျိုးနွယ်စုများသည် အစ္စလာမ်အတွင်း ဝင်ရောက်ရေးတွင် မက္ကာမြို့တော်လိုပင် စောင့်ကြည့်နေခဲ့ကြပေသည်။ မက္ကာမြို့တော်ကို ပြန်လည်မအောင်မြင်မီ အချိန်ပိုင်းတွင် အစ္စလာမ်အတွင်းသို့ အရဗ်မျိုးနွယ်စုများမှ တစ်ဦးစီသာ ဝင်လေ့ရှိခဲ့ကြပေသည်။ မက္ကာမြို့တော်ကို ပြန်လည်အောင်နိုင်ပြီးသည့် နောက်ပိုင်းတွင်မူ အရဗ်မျိုးနွယ်စုများသည် အုပ်စုလိုက် အုပ်စုလိုက် အစ္စလာမ်အတွင်းသို့ ဝင်လာခဲ့ကြပေသည်။ အာရေဗျကျွန်းစွယ်တစ်ခုလုံးသည် အစ္စလာမ်ကို သက်ဝင်ယုံကြည်လာခဲ့ပေသည်။ ဤသည် တမန်တော်မြတ် ပွင့်တော်မူခြင်း၏ ရည်ရွယ်ချက်ပြည့်စုံခြင်းပင်။

ကေန်မလွဲ ထို အရှင်မြတ်သည် ဝန်ချတောင်းပန်မှုကို အလွန်တရာ လက်ခံတော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။ ၁

## မီးတောက်မီးလျှံကဏ္ဍ

سُورَةُ تَبَّتْ

ဤကဏ္ဍသည် "အလ္လဟဗ်" မီးတောက်မီးလျှံ ကဏ္ဍမည်၏။ မက္ကာမြို့တော်တွင် ကျရောက်၏။ ဤကဏ္ဍတွင် အာယတ်တော် (၅) ပါးရှိ၏။

بِسْمِ اللَّهِ الرَّحْمَٰنِ الرَّحِيمِ

မပြတ်မစဲ သနားကြင်နာ ညှာတော်တော်မူသော မဟာကရုဏာတော်ရှင်ဖြစ်တော်မူသော အလ္လာဟ်အရှင်မြတ်၏နာမံတော်ဖြင့် အစပြုပါ၏။

تَبَّتْ يَدَا أَبِي لَهَبٍ وَتَبَّ ①

၁။ အဗူလဟဗ်၏ လက်နှစ်ဖက်သည် ကျိုးပဲ့ပျက်စီးစေသား။ ထို့ပြင် ၎င်းကိုယ်တိုင်လည်း ပျက်စီးစေသား။

---

(၁) တမန်တော်မြတ်သည် မက္ကာမြို့တော် ပြန်လည်အောင်နိုင်ချေပြီ။ အစ္စလာမ်သည် ပြည့်ဝစုံလင်ချေပြီ။ အာရေဗျကျွန်းဆွယ်ကြီး တစ်ခုလုံးသည်လည်း အစ္စလာမ်ကို သက်ဝင်ယုံကြည် လာချေပြီ။ တမန်တော်မြတ်ပွင့်တော်မူခြင်း၏ ရည်ရွယ်ချက်မှာလည်း ပြည့်ဝချေပြီ။ ယခုမူ နောင်တမလွန်ဘဝခရီး စတင်ရန်အချိန်နီးကပ်လာချေပြီ။ ထို့အတွက် အလ္လာဟ်အရှင်မြတ်က တမန်တော်မြတ်အား ဤပစ္စက္ခတွင် ဆောင်ရွက်ရန်ကိစ္စအဝဝ ပြီးဆုံးပြီ ဖြစ်ပါ၍ နောင်တမလွန်အရေးတွင် အထူးတလည် လုံးပန်းရန်၊ မိမိ၏အရှင်သခင်အား အထူးတလည် ဂုဏ်တော်မွမ်းရန် မိမိ၏ အရှင်သခင်အား အထူးတလည် ကျေးဇူးတုံ့ပြန်ရန် ထို့ပြင်တဝ ဤဘဝမှ ထိုဘဝသို့ ကူးပြောင်းရတော့မည် ဖြစ်သည့်အတွက် မိမိအဖို့လည်းကောင်း၊ မိမိ၏နောက်လိုက်တပည့်သားတို့အဖို့လည်းကောင်း၊ လွတ်ငြိမ်းခွင့်ပန်ကြားရန် မိန့်ကြားတော်မူခြင်း ဖြစ်စေသည်။

ဤကဏ္ဍကျရောက်လာသည့်အခါ တမန်တော်မြတ်နှင့်အတူ အချို့ဆွဟာဗဟ် သာဝကကြီးများသည် တမန်တော်မြတ် ကွယ်လွန်တော်မူရန် အချိန်နီးကပ်လာပြီ ဖြစ်ကြောင်းကို ရိပ်စားမိခဲ့ကြလေသည်။ ထိုအချိန်မှစ၍ တမန်တော်မြတ်အား ပြုံးရွှင်စွာ နေထိုင်တော်မူသည်ကို မတွေ့မြင်ရတော့ပေ။

တမန်တော်မြတ်သည် မက္ကာမြို့တော်ကို ဟိဂျရီသက္ကရာဇ် (၈)ခုနှစ်၊ ရမသွာန်လမြတ်တွင် ပြန်လည်အောင်နိုင်တော်မူခဲ့လေသည်။ ဤအကြောင်း ကုရ်အာန်ကျမ်းမြတ် ကဏ္ဍ(၄၀)တွင် အကျယ်တဝင့် ပါရှိခဲ့ချေပြီ။

مَآ اَغۡنٰى عَنۡهُ مَالُهٗ وَمَا كَسَبَ ۝٢

၂။ ၎င်း၏ ပစ္စည်းဥစ္စာသည်လည်း ၎င်း၏အဖို့ အသုံးဝင်သည် မဟုတ်ပေ။ ထိုနည်းတူစွာ ၎င်းရှာဖွေ ဆည်းပူးခဲ့သော (အမြတ်အစွန်း၊ သားသမီး)သည် လည်း အသုံးဝင်ခဲ့သည် မဟုတ်ပေ။

سَيَصۡلٰى نَارًا ذَاتَ لَهَبٍ ۝٣

၃။ မကြာမြင့်မီပင် ၎င်း ကိုယ်တိုင်လည်း ဟုန်းဟုန်း တောက်လောင်လျက်ရှိသော မီးထဲသို့ ဝင်ရောက်ရပေမည်။ ၁

---

① တမန်တော်မြတ်သည် အစ္စလာမ် ထွန်းကားခါစအချိန်တွင် ပထမသော် အစ္စလာမ်ကို လျှို့ဝှက်စွာ ဟောကြားတော်မူလေ့ရှိခဲ့သည်။ ထို့နောက်ပိုင်းတွင် ကုရ်အာန်ကျမ်းလာ အာယတ်တော်(၂၆း၂၁၄)ကျရောက်လာပြီး အတိအလင်း တရားဟောကြားရန် အမိန့်တော် ရောက်ရှိလာသည့်အခါ တမန်တော်မြတ်သည် ဆွဖာတောင်ထိပ်သို့ တက်၍ မိမိသားချင်းများအား စုရုံးကာ အစ္စလာမ်၏ တရားတော်ကို အတိအလင်း ဟောကြားတော်မူလေသည်။ ထိုအခါ အဗူလဟဗ်က တမန်တော်မြတ်အား "အသင် ပျက်စီးပါစေ၊ အသင်သည် ငါတို့အား ဤကိစ္စအတွက် စုရုံးစေ သလော"ဟု ကျိန်ဆဲပြောဆိုလေသည်။ ထိုအခါ ဤကဏ္ဍကျရောက်လာခဲ့ပေသည်။ ထာနဝီ။

"အဗူလဟဗ်" သည် အခြားမဟုတ်၊ တမန်တော်မြတ်၏ ဦးရီးအရင်းခေါက်ခေါက်တစ်ဦးဖြစ်သည်။ ၎င်း၏အမည်ရင်းမှာ အဗ်ဒုလ်အုဇ္ဇာအိဗ်နု အဗ်ဒုလ် မွတ္တလိဗ်ဟူ၍ဖြစ်သည်။

"အဗူလဟဗ်"၏ မူရင်းအဓိပ္ပာယ်မှာ "မီးတောက်မီးလျှံ၏အဘ" ဟူ၍ဖြစ်သည်။ ဤသည် ရဋ္ဌိအမည် တစ်မျိုးပင်ဖြစ်သည်။ ယင်းသို့အမည်မှည့်ခေါ်ခြင်းမှာ အဗူလဟဗ်၏ မျက်နှာအရည်အသွေး နီခြင်းကြောင့် ဖြစ်သည်။ ထိုမှတပါး အဗူလဟဗ်သည် နောင်တချိန်တွင် နီရဲလျက်ရှိသော မီးတောက်မီးလျှံအတွင်းသို့ ရောက်ရှိရမည် ဖြစ်ခြင်းကြောင့်လည်း ဖြစ်ပေသည်။

အဗူလဟဗ်သည် တမန်တော်မြတ်၏ဦးရီး အရင်းခေါက်ခေါက် ဖြစ်သော်လည်း ကာဖ်ရ်သွေးဖည်မှု၊ ငြင်းဆန်မှု၊ စိတ်ဓာတ်မာကျောမှု၊ ခဲယဉ်းမှုများကြောင့် တမန်တော်မြတ်အား အကြီးအကျယ် ဆန့်ကျင်ခဲ့လေသည်။ အန္တရာယ်ပြုခဲ့လေသည်။ ဦးရီးသည် ရန်သူကြီးဖြစ်ခဲ့လေသည်။

အဗူလဟဗ်သည် တမန်တော်မြတ်အား အမျိုးမျိုး အန္တရာယ်ပြုခဲ့သည်။ တမန်တော်မြတ် တရားဟောကြားတော်မူသည့်အခါ အဗူလဟဗ်သည် ခဲများဖြင့်ပေါက်လေ့ရှိသည်။ တစ်ခါသော် တမန်တော်မြတ် သည် 'ဇုလ်မဂျာဇ်' ဈေးသို့သွား၍ တရားဟောကြားတော်မူ၏။ အဗူလဟဗ်သည် တမန်တော်မြတ်အား နောက်မှလိုက်၍ ခဲများဖြင့်ပေါက်လေရာ၊ တမန်တော်မြတ်၏ ခြေသလုံးနှင့် ခြေထောက်မှ သွေးများယိုစီးလာခဲ့ပေ သည်။ ယင်းသို့ခဲများဖြင့် ပေါက်သည်သာမက အဗူလဟဗ်က လူများအား "အသင်တို့သည် ဤသူ၏စကားကို နားမထောင်ကြနှင့်၊ ဤသူသည် လူလိမ်ဖြစ်သည်။ သာသနာမဲ့ဖြစ်သည်"ဟူ၍ပင် ဖြားယောင်းပြောဆိုခဲ့လေသည်။ တစ်ခါတစ်ရံ အဗူလဟဗ်က "မုဟမ္မဒ်သည် ငါတို့အား သေပြီးနောက် ဤသို့၊ ထိုသို့ ဖြစ်ကြရမည်၊ ခံစံကြရမည် စသည်ဖြင့် အမျိုးမျိုးပြောဆိုသည်။ သို့ရာတွင် သူပြောဆိုသောစကားများသည် ဖြစ်ပေါ်လာသည် မတွေ့ရှိရပေ"ဟု ပြောဆိုလေ့ရှိသည်။ သို့ပြောဆိုပြီးနောက် အဗူလဟဗ်သည် မိမိ၏လက်နှစ်ဖက်ကိုညွှန်ကာ ➤➤

➤➤ "အို-လက်နှစ်ဖက်၊ အသင်တို့ ပျက်စီးပါစေ၊ အသင်တို့တွင် မုဟမ္မဒ်ပြောဆိုသော စကားများအနက် တစ်စုံတစ်ရာ မျှပင် မတွေ့မမြင်ရပါတကား"ဟု ပြက်ရယ် ပြောဆိုလေ့ရှိခဲ့ပေသည်။

အချုပ်အားဖြင့်ဆိုရသော် တမန်တော်မြတ်အပေါ်၌ အဗူလဟဗ်၏ရန်ပြုမှု၊ အန္တရာယ်ပြုမှုတို့သည် ကမ်းကုန်နေချေပြီ။ သို့အလွန်အကျွံ အန္တရာယ်ပြုသည့်အတွက် အဗူလဟဗ်အား အလ္လာဟ်အရှင်မြတ်၏ ပြစ်ဒဏ်ခံရမည့်အကြောင်း သတိပေးလျှင် အဗူလဟဗ်က"အကယ်၍အမှန်တကယ် ပြစ်ဒဏ်ခံရ မည့် အရေးရှိပါကလည်းကျွန်ုပ်ထံတွင်ဥစ္စာပစ္စည်းသားသမီး အမြောက်အမြားရှိသည်။ ဤသည်တို့ကို လျော်ကြေးအဖြစ် ပေးသွင်း၍ ကျွန်ုပ် ပြစ်ဒဏ်မှလွတ်မြောက်အောင် ကြိုးစားမည်" ဟု ပြောဆိုလေ့ရှိသည်။

အဗူလဟဗ်၏ဇနီးဖြစ်သူ အုမ္မုဂျမီလ်သည်လည်း တမန်တော်မြတ်အား အလွန်မုန်းတီးသည်။ ရန်ပြုသည်။ မိမိခင်ပွန်းအား မီးလောင်ရာ လေပင့်ဆိုသကဲ့သို့ တမန်တော်မြတ်ကို ပို၍ပို၍ အန္တရာယ်ပြုရန် မြောက်ဆွပေးလေ့ရှိသည်။

ဤကဏ္ဍတွင် ဇနီးမောင်နှံနှစ်ဦးတို့၏ နောက်ဆုံးအခြေအနေကိုဖော်ပြပြီး သတိပေးထားတော်မူသည်မှာ အမျိုးသားဖြစ်စေ၊ အမျိုးသမီးဖြစ်စေ၊ သားချင်းဖြစ်စေ၊ သူစိမ်းဖြစ်စေ၊ အကြီးဖြစ်စေ၊ အငယ်ဖြစ်စေ၊ အမှန်တရားကို ရန်ပြုပါက ဆန့်ကျင်ပါက နောက်ဆုံးတွင် အရှက်တကွဲအကျိုးနည်းဖြစ်ကာ၊ ပျက်စီးခြင်းကြီးမက ပျက်စီးသွားရမည်သာဖြစ်သည်။

ဥစ္စာပစ္စည်း သားသမီးများ သည် အနည်းငယ်စိုးစဉ်းမျှပင် အကျိုးပြုနိုင်ကြမည် မဟုတ်ပေ။ တမန်တော်မြတ်နှင့်ဆွေမျိုးတော်စပ်ခြင်းသည်လည်း တစ်စုံတစ်ရာ အကျိုးပြုနိုင်မည်မဟုတ်ပေ။

အဗူလဟဗ်သည် လက်မထောင်ခဲ့သည်။ မိမိ၏ဥစ္စာပစ္စည်းနှင့်သားသမီးများကိုအကြောင်းပြုကာ တမန်တော်မြတ်အား အမျိုးမျိုးရန်ပြုခဲ့သည်။ အဗူလဟဗ်သိထားအပ်သည်မှာ- အမှန်မှာ ယခု အဗူလဟဗ်၏ လက်နှစ်ဖက်စလုံး ကျိုးချေပြီ။ အမှန်တရားကို ဖြိုခွင်းရန် ၎င်း၏ကြိုးပမ်းမှု အားလုံးတို့သည်လည်း အချည်းအနှီး ဖြစ်ချေပြီ။ ၎င်း၏ခေါင်းဆောင်မှုသည်လည်း ပျက်စီးချေပြီ။ ၎င်းကိုယ်တိုင် ပျက်စီးခြင်းကြီးမက ပျက်စီးနေချေပြီ။ ဤကား သမိုင်းစဉ်တွင် အထင်အရှားပင်။

ဗဒ်ရ်ပြီးဆုံး၍ ခုနစ်ရက်ရှိသောအခါ အဗူလဟဗ်၌ အဆိပ်အတောက်ပါသော အဖုအကျိတ်တစ်ခု ထွက်ပေါ်လာခဲ့၏။ ရောဂါကူးစက်မည်ကို စိုးရိမ်သည့်အတွက် အိမ်သားများက အဗူလဟဗ်အား အိမ်တွင်း၌ မထားဘဲ၊ အိမ်ပြင် အခြားတစ်နေရာတွင် သွားရောက်ထားခဲ့ကြ၏။ အဗူလဟဗ်သည် ထိုနေရာမှာပင် သေဆုံးသွားခဲ့၏။ သုံးရက်တိုင်တိုင် အဗူလဟဗ်၏ အလောင်းသည် မြေမကျဘဲ ရှိနေ၏။ ၎င်း၏အလောင်းကို ကိုင်မည့်သူဟူ၍ တစ်ဦးတစ်ယောက်မျှ မရှိခဲ့ပေ။

နောက်ဆုံးတွင် အလွန်ပုပ်စော်နံလာသည့်အခါ အိမ်သူ၊ အိမ်သားများက နီဂရိုးလူမျိုး ကူလီများအားခေါ်၍ မြေမြှုပ်စေခဲ့ကြ၏။ အဆိုပါ ကူလီများသည်လည်း တွင်းတူးပြီး အဗူလဟဗ်၏အလောင်းကို တုတ်ဖြင့်မ၍ တွင်းထဲသို့ တွန်းချပြီးလျှင်အပေါ်မှ ခဲများဖြင့် ဖို့ထားလိုက်လေသည်။ တမန်တော်မြတ်အား ရန်ပြုခဲ့သော၊ ဂုဏ်မာနထောင်လွှားခဲ့သော အဗူလဟဗ်သည် ဤပစ္စက္ခ၌ ဤသို့အရှက်တကွဲ အကျိုးနည်း ဖြစ်သွားခဲ့ရလေသည်။ ဤကား ဤပစ္စက္ခတွင် ပျက်စီးခြင်းသာ။ နောင်ဘဝတွင် ခံစားရမည့် အပြစ်ဒဏ်ကား အတိုင်းမသိ ကြီးမားလှသည်။ မရှုမလှ ခံစားရဦးမည်သာတည်း။

وَّامْرَاَتُهٗ ۚ حَمَّالَةَ الْحَطَبِ ۝٤

၄။ မီးဆိုက်ရန် ထင်းစည်းကို ထမ်းရွက်လျက် ရှိသော ၎င်း၏ဇနီးဖြစ်သူသည်လည်း (တစ်နည်း) ၎င်း၏ဇနီးဖြစ်သူသည်လည်း မီးဆိုက်ရန် ထင်းစည်းကို ထမ်းရွက်လျက် (တစ်နည်း) ဆူးခက်ကို ထမ်းရွက်လျက်ရှိသော ၎င်း၏ဇနီးဖြစ်သူသည်လည်း (တစ်နည်း) ၎င်း၏ဇနီးဖြစ်သူသည်လည်း ဆူးခက်ကို ထမ်းရွက်လျက် (တစ်နည်း) ၎င်း၏ကုန်းချောသူ ဇနီးသည်လည်း။ [၁]

فِيْ جِيْدِهَا حَبْلٌ مِّنْ مَّسَدٍ ۝٥

၅။ ထိုဇနီးဖြစ်သူသည် လည်ကုပ်၌ စွန်ပလွံလျှော်ကို ကောင်းစွာကျစ်ထားသော ကြိုးတစ်ချောင်းလည်း ရှိချေအံ့သတည်း။ [၂]

---

(၁) အဗူလဟဗ်၏ဇနီး အုမ္မုဂျမီလ်သည် ဥစ္စာပစ္စည်း ချမ်းသာကြွယ်ဝသော်လည်း အလွန့်အလွန် တွန့်တိုစေးနှဲလှသည့်အတွက် မိမိကိုယ်တိုင် တောတွင်းသွား၍ ထင်းခွေလေ့ရှိခဲ့သည်။ စိတ်နေသဘောထား အလွန့်အလွန် ယုတ်မာလှသည့်အတွက် တမန်တော်မြတ် သွားလာရာလမ်းတွင် ဆူးများကို ပစ်ထားလေ့ရှိခဲ့သည်။ အုမ္မုဂျမီလ်သည် ဤပစ္စက္ခတွင် တမန်တော်မြတ်အား ရန်ပြုရာ၌ မိမိ၏ခင်ပွန်းကို အထောက်အကူပြုသကဲ့သို့ နောင်တမလွန်ဘဝတွင်လည်း ငရဲ၌ မိမိ၏ ခင်ပွန်းနှင့်အတူတကွပင် ငရဲဒဏ်ခံစားရမည်ဖြစ်သည်။ ငရဲတွင် ငရဲသားများ စားသုံးရန် 'ဇက္ကူမ်' 'သွာရီအ်'စသည့် ဆူးပင်များရှိသည်။ အုမ္မုဂျမီလ်သည် ငရဲတွင်လည်း အဆိုပါဆူးပင်များကို သယ်ပိုး၍ မိမိခင်ပွန်း၏ ငရဲမီးကို ပိုမိုတောက်လောက်အောင် ပြုလုပ်နေရမည်သာဖြစ်သည်။ မည်သူမပြုမိမိမှုပင်၊ လုပ်ရဲလျှင် ခံရဲရမည်ပင်။

အချို့ပညာရှင်များက "ဟမ္မာလတလ်ဟတွာဗ်" ၏အနက်ကို ကုန်းချောသူဟူ၍လည်း ဖွင့်ဆိုကြသည်။ အရဗီစာပေတွင် ဤအနက်၌ အသုံးအနှုန်းလည်းရှိသည်။ ပါရှားစာပေတွင်လည်း ကုန်းချော သူကို "ဟိုင်ဇမ်ကရှ်"ဟူ၍ အသုံးအနှုန်းရှိသည်။ အုမ္မုဂျမီလ်သည် တမန်တော်မြတ်နှင့်ပတ်သက်၍ မဟုတ်မမှန်လုပ်ကြံ၍ ကုန်းချောလေ့ရှိခဲ့ပေသည်။ ကြည့်-အွတ်(ဆ်)မာနီ။ ထာနဝီ။

(၂) "ထိုမိန်းမ၏လည်ကုပ်၌ကောင်းစွာကျစ်ထားသောစွန်ပလွံလျှော်ကြိုးတစ်ချောင်းရှိသည်"ဟူသော အာယတ်တော်၌ လျှော်ကြိုးဟူသည် ငရဲတွင် ငရဲသားများအား ချည်နှောင်ရန်ဖြစ်သော ငရဲသံကြိုး ကွင်းများကို ဆိုလိုသည်။

အုမ္မုဂျမီလ်သည် ထင်းခွေလေ့ရှိခဲ့သည်။ ထင်းခွေရာ၌ ချည်နှောင်ရန်ကြိုးလိုသည်။ ထို့အတွက်ကြောင့် ယင်းသို့ နှိုင်းယှဉ်သုံးနှုန်းထားတော်မူခြင်း ဖြစ်တန်ရာသည်။

အချို့ကျမ်းချက်များတွင် လာရှိသည်မှာ အုမ္မုဂျမီလ်၏လည်ပင်းတွင် အလွန်အဖိုးတန်သော ဆွဲကြိုးတစ်ကုံးရှိခဲ့သည်။ အုမ္မုဂျမီလ်သည် လာတ်၊ အုဇ္ဇာတို့အား တိုင်တည်၍ ငါသည် ဤဆွဲကြိုးကြီးကို မုဟမ္မဒ်အား အန္တရာယ်ပြုရာတွင် သုံးမည်ဟု ပြောဆိုလေ့ရှိခဲ့သည်။ သို့ဖြစ်ရာ အဆိုပါ ဆွဲကြိုးသည် ငရဲတွင် ➤➤

# ဖြူစင်သောသဒ္ဒါတရားကဏ္ဍ

سُورَةُ الإخلَاصِ

ဤကဏ္ဍသည် "အလ်အိခ်လာဆ်" ကဏ္ဍမည်၏။ မက္ကာမြို့တော်၌ ကျရောက်ခဲ့၏။
ဤကဏ္ဍတွင် အာယတ်တော် (၄)ပါး ပါရှိ၏။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ

မပြတ်မစဲ သနားကြင်နာ ညှာတာတော်မူသော
မဟာကရုဏာတော်ရှင်ဖြစ်တော်မူသာ
အလ္လာဟ်အရှင်မြတ်၏နာမံတော်ဖြင့် အစပြုပါ၏။

قُلْ هُوَ اللّٰهُ اَحَدٌ ①

၁။ (အို-နဗီတမန်တော်) အသင်သည် ပြောကြားပါလေ။ ထိုအလ္လာဟ်အရှင်မြတ်သည် တစ်ဆူတည်းဖြစ်တော်မူ၏။ (တစ်နည်း) (အို-နဗီတမန်တော်) အသင်သည် ဤသို့ ပြောကြားပါလေ။ အလ္လာဟ်အရှင်မြတ်သည် တစ်ဆူတည်းဖြစ်တော်မူ၏။ [၁]

اَللّٰهُ الصَّمَدُ ②

၂။ အလ္လာဟ်အရှင်မြတ်သည် လိုလားတောင့်တခြင်း လုံးဝ ကင်းရှင်းတော်မူသောအရှင်၊ သူတပါးတို့၏ မှီခိုအားထားရာအရှင်၊ နိစ္စထာဝရအရှင်ဖြစ်တော်မူ၏။ [၂]

---

>> ၎င်း၏လည်ပင်း၌ မီးကြိုးဖြစ်ကာ ရှိနေမည်သာတည်း။

အုမ္မုဂျမီလ် သေဆုံးပုံမှာလည်း အံ့ဩဖွယ်ရာပင်။ တစ်နေ့ အုမ္မုဂျမီလ်သည် မိမိ၏အလေ့အထအတိုင်း ထင်းများကိုရွက်ရာတွင် ထင်းများကို တုပ်နှောင်ထားသောကြိုးသည် ၎င်း၏လည်ပင်းတွင် စွပ်မိပြီး၊ လည်မျိုအစ်ကာ အသေဆိုးနှင့် သေဆုံးသွားခဲ့ရလေသည်။

① တစ်ခါသော် မုရှ်ရစ်များက တမန်တော်မြတ်အား အသင်၏ကိုးကွယ်ရာအရှင်သခင်၏ ဂုဏ်ဝိသေသကားအသို့ပါနည်းဟု မေးမြန်းခဲ့ကြ၏။ ထိုအခါ ဤကဏ္ဍကျရောက်လာခဲ့၏။ ကြည့်-ထာနဗီ။ ဒုရ်ရိမန်ဆူရ်။

အလ္လာဟ်အရှင်မြတ်သည် တဆူတည်း၊ တစ်ပါးတည်းသာ ဖြစ်တော်မူ၏။ နှစ်ပါးမဟုတ်၊ သုံးပါးမဟုတ်၊ အပြားပြားမဟုတ်။ ထိုအရှင်မြတ်၌ ဂုဏ်ရည်တူဟူ၍ အလျင်းမရှိ။ တွဲဖက်ယှဉ်ဖက် ဟူ၍ အလျင်းမရှိ။ ဤအကြောင်းနှင့်စပ်လျဉ်း၍ ကုရ်အာန် (၁၇:၄၂ နှင့် ၂၁:၂၂)များကို ရှုပါကုန်။

② "ဆွမဒ်"ဟူသောပုဒ်ကို မုဖတ်စ်စီရ်ပညာရှင်များသည် အရာခပ်သိမ်းကုန်တို့၏ မှီခိုအားထားရာအရှင်ဟူ၍လည်းကောင်း၊ ရှေ့ဆောင်ညွှန်ပြမှု ပြည့်ဝစုံလင်သောအရှင် ဟူ၍လည်းကောင်း၊ ထာဝရ တည်ရှိတော်မူသော အရှင်ဟူ၍လည်းကောင်း၊ မိဘသားသမီး သံယောဇဉ် လုံးဝ ကင်းစင်တော်မူသောအရှင် ဟူ၍ >>

لَمْ يَلِدْ ۙ وَلَمْ يُولَدْ ۙ ﴿٣﴾

၃။ ထိုအရှင်မြတ်သည် မည်သူတစ်ဦးတစ်ယောက်ကိုမျှ မွေးဖွားတော်မူခဲ့သည် မဟုတ်ပေ။ မည်သူတစ်ဦးတစ်ယောက်၏ မွေးဖွားခြင်းကိုလည်း ခံခဲ့ရတော်မူသည်မဟုတ်ပေ။ [၁]

وَلَمْ يَكُنْ لَّهٗ كُفُوًا اَحَدٌ ﴿٤﴾

၄။ ထိုမှတပါး ထိုအရှင်မြတ်၌ ဂုဏ်ရည်တူသူဟူ၍လည်း တစ်ဦးတစ်ယောက်မျှပင် မရှိပေ။ [၂]

---

➤➤ လည်းကောင်း၊ ပြည့်ဝ သိပ်သည်းတော်မူသောအရှင်၊ စားခြင်း၊ သောက်ခြင်းမှ ကင်းစင်တော်မူသောအရှင်၊ အပြစ် လုံးဝ ကင်းတော်မူသောအရှင် စသည်ဖြင့် အမျိုးမျိုးအနက်ဖွင့်ကြလေသည်။ ယင်းသည့်အဖွင့်များ အားလုံးမှန်ကန်ကြောင်းနှင့် စပ်လျဉ်း၍ ပညာရှင်ကြီး တဗရာနီက ထောက်ခံရေးသားထားပါသည်။

(၁) အလ္လာဟ်အရှင်မြတ်၌ မိဘမရှိ၊ သားသမီးမရှိ၊ မိဘသားသမီးသံယောဇဉ် အလျှင်းမရှိ။

(၂) အလ္လာဟ်အရှင်မြတ်၌ ဂုဏ်ရည်တူဟူ၍ တစ်ဦးတစ်ယောက်မျှမရှိ။ ထိုအရှင်မြတ်၏ မည်သည့် ဂုဏ်အင်ဒြပ်တွင်မျှ၊ မည်သည့်အပြုအမူတွင်မျှ၊ မည်သို့မျှ၊ မည်မျှေ့မျှ ဂုဏ်ရည်တူ ဟူ၍ အလျှင်းမရှိ။

**မှတ်ချက်။** အချုပ်အားဖြင့် "ရှိရ်က်" ယှဉ်တွဲကိုးကွယ်မှုသည်

(၁) မူလဇာတိတွင်သော်လည်းကောင်း။

(၂) ဂုဏ်အင်ဒြပ်တွင်သော်လည်းကောင်း။

(၃) မျိုးနွယ်တော်စပ်ခြင်းတွင်သော်လည်းကောင်း။

(၄) အလုပ်အကိုင် တွင်သော်လည်းကောင်း ဖြစ်နိုင်ပေသည်။

အလ္လာဟ်အရှင်မြတ်သည် ဤသည့် "ရှိရ်က်" (၄)ရပ်လုံးနှင့် လုံးဝကင်းရှင်းတော်မူကြောင်း ဤကဏ္ဍလာ အာယတ်တော် (၄) ပါးတွင် တိုတိုတုပ်တုပ် တိတိကျကျ ဖွင့်ဟမိန့်ဆိုထားတော်မူသည်။

# အရုဏ်တက်ချိန်ကဏ္ဍ

سُوْرَةُ الفَلَق

ဤကဏ္ဍသည် "အလ်ဖလာက်" အရုဏ်တက်ချိန်ကဏ္ဍမည်၏။ မဒီနာမြို့၌ကျရောက်ခဲ့၏။
ဤကဏ္ဍတွင် အာယတ်တော် (၅)ပါး ပါရှိ၏။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ

မပြတ်မစဲ သနားကြင်နာ ညှာတာတော်မူသော၊
မဟာကရုဏာတော်ရှင် ဖြစ်တော်မူသာ
အလ္လာဟ်အရှင်မြတ်၏နာမံတော်ဖြင့် အစပြုပါ၏။

قُلْ اَعُوْذُ بِرَبِّ الْفَلَقِ ①

၁။ (အို-နဗီတမန်တော်) အသင်သည် (ဤသို့) လျှောက်ထား ပန်ကြားပါလေ၊ ကျွန်တော်မျိုးသည် နံနက်မိုးသောက်ချိန်ကို ဖန်ဆင်းတော်မူသောအရှင်မြတ်အားဖြင့် အကာအကွယ်ယူပါ၏။ [၁]

مِنْ شَرِّ مَا خَلَقَ ②

၂။ ထိုအရှင်မြတ်သည် ဖန်ဆင်းတော်မူသော (ခပ်သိမ်းကုန်သော)အဖန်ဆင်းခံတို့၏ ဘေးအန္တရာယ်များမှလည်းကောင်း။

---

(၁) တစ်ခါသော် ရေဝတီဘာသာဝင်တစ်ဦးဖြစ်သူ လဗီဒ် အိဗ်နု အအ်ဆွာမ်နှင့် ၎င်း၏သမီးများက တမန်တော်မြတ်အား "စိဟ်ရ်" ဂျာဒူ ပြုလုပ်ခဲ့ကြသည့်အတွက် တမန်တော်မြတ်သည် အနည်းငယ် ခံစားတော်မူခဲ့ရလေသည်။ ထို့အတွက် တမန်တော်မြတ်က အလ္လာဟ်အရှင်မြတ်ထံတော်၌ ဆုပန်ကြားရာ ဤကဏ္ဍနှစ်ခု၊ (အလ်ဖလာက်နှင့်အန္နာစ်) ကျရောက်လာခဲ့ပေသည်။

"အလ်ဖလာက်" ကဏ္ဍတွင် အာယတ်တော် (၅) ပါး၊ "အန္နာစ်" ကဏ္ဍတွင် အာယတ်တော် (၆) ပါး၊ ပေါင်း(၁၁)ပါး ပါရှိ၏။ လဗီဒ်ဂျာဒူလုပ်ထားရာတွင်လည်း အထုံး (၁၁) ထုံး ပါရှိ၏။ ကောင်းကင်တမန် ဂျိဗ်ရီလ်သည် ဤကဏ္ဍနှစ်ခုလာ အာယတ်တော်များကို ရွတ်ဖတ်သရဇ္ဈာယ်သည့်အခါ အာယတ်တော်တစ်ပါး ရွတ်ဖတ်ပြီးတိုင်း ပြီးတိုင်း၊တစ်ထုံးတစ်ထုံးစီ ပြေ၍ပြေ၍ သွားခဲ့၏။ ဤသို့ဖြင့် တမန်တော်မြတ်သည် လုံးဝကျန်းမာချမ်းသာ၍ သွားတော်မူခဲ့လေ၏။

အချုပ်အားဖြင့် ဤကဏ္ဍနှစ်ခုတွင် လောကီရေးနှင့် လောကုတ္တရာရေးဆိုင်ရာ ဘေးဒုက္ခအန္တရာယ် အသွယ်သွယ်တို့မှ ကင်းဝေးရန်အတွက် အလ္လာဟ်အရှင်မြတ်ထံတော်၌သာ ခိုလှုံရမည့်အကြောင်းနှင့် အရေးကိစ္စအဝဝတွင် အလ္လာဟ်အရှင်မြတ်အပေါ်၌သာ ယုံပုံလွှဲအပ်ရမည့်အကြောင်း မိန့်ဆိုထားတော်မူသည်။

ထာနဝီ။

وَمِنْ شَرِّ غَاسِقٍ إِذَا وَقَبَ ٣

၃။ အမှောင်အတိ ဖြစ်လာသောအခါ (ဖြစ်တတ်သော) ယင်းအမှောင်၏ ဘေးအန္တရာယ်များမှလည်းကောင်း။ ၁

وَمِنْ شَرِّ النَّفّٰثٰتِ فِي الْعُقَدِ ٤

၄။ အထုံးအဖွဲ့များ၌ (ဂါထာ မန္တရားရွတ်ဖတ်) မန်းမှုတ်သောမိန်းမတို့၏ ဘေးအန္တရာယ်များမှလည်းကောင်း။ ၂

وَمِنْ شَرِّ حَاسِدٍ إِذَا حَسَدَ ٥

၅။ မနာလို ငြူစူသောသူသည် မနာလို ငြူစူသောအခါ (ဖြစ်တတ်သော) ဘေးအန္တရာယ်များမှလည်းကောင်း။ ၃

---

(၁) လူသားတို့သည် ဘေးအန္တရာယ်အသွယ်သွယ်တို့မှ လွတ်ကင်းရန်အတွက် ကမ္ဘာ့အဝန်း၏ မိုခိုအားထားရာဖြစ်တော်မူသော၊ ညဥ့်၏အမှောင်ကိုခွင်း၍ နေ့၏အလင်းရောင်ကို ဆောင်တော်မူသော၊ ဒုက္ခကိုဖယ်ရှား၍ သုခကိုဆောင်တော်မူသော အလ္လာဟ်အရှင်မြတ်ထံတော်၌သာ ခိုလှုံရပေမည်။ အထူးသဖြင့် ညဥ့်၏အမှောင်တွင် ဖြစ်ပေါ်လေ့ရှိသော ဘေးအန္တရာယ်အပေါင်းမှ ကင်းလွတ်ရန် လည်း ထိုအရှင်မြတ်ထံ၌ပင် ခိုလှုံရပေမည်။ ဤအာယတ်တော်တွင် ညဥ့်၏အန္တရာယ်မှဟု မိန့်ဆိုထားတော်မူခြင်းမှာ ဘေးအန္တရာယ်များသည် များသောအားဖြင့် အလင်းနှင့်စာလျှင် အမှောင်၌ နေ့နှင့်စာလျှင် ညဥ့်၌ ပိုမိုဖြစ်ပေါ်လေ့ရှိခြင်းကြောင့်ပင် ဖြစ်ပေသည်။ ဥပမာ- ခိုးသား ဓားပြများ၊ သားရဲတိရစ္ဆာန်များ၊ အဆိပ်အတောက်ရှိသော ပိုးမွှားများ၊ ရောဂါပိုးများသည်လည်း ညဥ့်၌ပင် ထွက်လေ့ရှိကြပေသည်။

အမှောင်ဟူသောစကားတွင် အတွင်းအမှောင်၊ အပြင်အမှောင်၊ ဆင်းရဲခြင်း၏ အမှောင်၊ စိတ်ဒုက္ခဖြစ်ခြင်း၏အမှောင်၊ လမ်းမှားခြင်း၏အမှောင် အားလုံး အကျုံးဝင်ပေသည်။

(၂) အထုံးများတွင် မန်းမှုတ်သူများဟူသည် ဂျာဒူမန္တရားပြုလုပ်ရာ၌ အထုံးအဖွဲ့များတွင် မန်းမှုတ်သော အမျိုးသမီးများအုပ်စု၊ မှော်ဆရာ၊ စုန်းကဝေကို ဆိုလိုသည်။ ဂျာဒူမန္တရားသည် ရှိသည်။ ကုရ်အာန်ကျမ်းမြတ် (၂း၁၀၂) တွင်လည်း ပါရှိသည်။ တမန်တော်မြတ်၏ ဩဝါဒတော်များတွင်လည်း ပါရှိသည်။ အကျယ်ကို သိလိုပါက ခါဇင်ကျမ်း၊ အစောင်-၇၊ စာမျက်နှာ (၂၆၈-၂၆၉) တွင် ရှုပါကုန်။

(၃) လူ့လောကတွင်ဖြစ်ပေါ်လျက်ရှိသော နှောင့်ယှက်မှု၊ ဆန့်ကျင်မှု၊ ခိုက်ရန်ဖြစ်ပွားမှု၊ တိုက်ခိုက်မှု၊ သတ်ဖြတ်မှု၊ ဖျက်ဆီးမှုတို့ကို နောက်ကွယ်မှ စေ့ဆော်တိုက်တွန်းဖြစ်ပေါ်စေသော အကြောင်းများတွင် မလိုမုန်းတီးမှုသည်လည်း အကြောင်းကြီးတစ်ရပ်ပင်။ ဤကား အထင်အရှားပင်။ မလိုမုန်းတီးသူတစ်ဦးသည် ပထမသော် မိမိ၏ မလိုမုန်းတီးမှုကို ဖုံးဖိထား၏။ သို့ရာတွင် မုန်းတီးမှုသည် ဖုံးဖိ၍ရခဲ၏။ တချိန်သော် အန်ထွက်လာ၏။ ထိုအခါ မုန်းတီးသောသူသည် ကာယကံမြောက် အန္တရာယ်ပြုလာ၏။ ကျူးလွန်စော်ကား၏။ ထို့အတွက် ယင်းသည့်မလိုမုန်းတီးသော သူများ၏ အန္တရာယ်မှ လွတ်ကင်းရန်လည်း အလ္လာဟ်အရှင်မြတ်ထံတော်၌သာလျှင် ခိုလှုံရပေသည်။

## လူသားများကဏ္ဍ

سُوْرَةُ النَّاسِ

ဤကဏ္ဍသည် "အန္နာစ်" လူသားများ ကဏ္ဍမည်၏။ မဒီနာမြို့၌ ကျရောက်ခဲ့၏။
ဤကဏ္ဍတွင် အာယတ်တော်(၆) ပါး ပါရှိ၏။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ ۝

မပြတ်မစဲ သနားကြင်နာတော်မူသော
မဟာကရုဏာတော်ရှင် ဖြစ်တော်မူသော
အလ္လာဟ်အရှင်မြတ်၏နာမံတော်ဖြင့် အစပြုပါ၏။

قُلْ اَعُوْذُ بِرَبِّ النَّاسِ ۝١

၁။ (အို-နဗီတမန်တော်) အသင်သည် (ဤသို့) လျှောက်ထား ပန်ကြားပါလေ။ ကျွန်တော်မျိုးသည် အကာအကွယ်ယူပါ၏။ လူ့ခပ်သိမ်းတို့ကို ဖန်ဆင်း မွေးမြူတော်မူသော အရှင်မြတ်အားဖြင့်။

مَلِكِ النَّاسِ ۝٢

၂။ လူ့ခပ်သိမ်းတို့၏ ဘုရင်မင်းမြတ်ဖြစ်တော်မူသော (အရှင်မြတ်အားဖြင့်)။

اِلٰهِ النَّاسِ ۝٣

၃။ လူ့ခပ်သိမ်းတို့၏ ဆည်းကပ်ကိုးကွယ်ရာ ဖြစ်တော်မူသော (အရှင်မြတ်အားဖြင့်)။

مِنْ شَرِّ الْوَسْوَاسِ ۙ الْخَنَّاسِ ۝٤

၄။ မကောင်းသော အကြံအစည်များကို ထည့်သွင်းတတ်သော၊ နောက်ဆုတ်သော၊ (ရှိုင်တွာန်မိစ္ဆာကောင်)၏ဘေးအန္တရာယ်မှ။

الَّذِيْ يُوَسْوِسُ فِيْ صُدُوْرِ النَّاسِ ۝٥

၅။ အကြင်(ရှိုင်တွာန်မိစ္ဆာကောင်သည်) လူတို့၏ စိတ်နှလုံးတွင်းသို့ မကောင်းသော အကြံအစည်ကို ထည့်သွင်းလေ့ရှိ၏။ [1]

---

(၁) အလ္လာဟ်အရှင်မြတ်သည် ကမ္ဘာ့အဝန်းကို စတင်ဖန်ဆင်းတော်မူသော၊ ပိုင်ဆိုင်စိုးမိုးတော်မူသော၊ ကမ္ဘာအဝန်း၏ ဆည်းကပ်ကိုးကွယ်ခြင်းကို ခံထိုက်တော်မူသော၊ တန်ခိုးတော်နှင့် အဆုံးအစမရှိသောအရှင် ဖြစ်တော်မူ၏။ ထိုအရှင်မြတ်၏ တန်ခိုးတော်များသည် ကမ္ဘာ့အဝန်း၌ ပျံ့နှံ့လျက်ရှိ၏။ အထူးသဖြင့် ထိုအရှင်မြတ်၏ တန်ခိုးတော်များသည် အခြားအဖန်ဆင်းခံများနှင့်စာလျှင် လူသား၌ အများဆုံး ထင်ရှား⊳⊳

مِنَ الْجِنَّةِ وَالنَّاسِ ﴿٦﴾

၆။ (ထိုရှိုင်တွာန်မိစ္ဆာကောင်သည်) ဂျင်န်(န်) သတ္တဝါတို့အနက်မှဖြစ်စေ၊ လူတို့အနက်မှဖြစ်စေ၊ [၁]

---

➤➤ ပေါ်လွင်နေ၏။ ထို့အတွက်ကြောင့်ပင် အလ္လာဟ်အရှင်မြတ်သည် ဤကဏ္ဍတွင် မိမိကိုယ်ကို လူသားတို့၏ အရှင်သခင်၊ လူသားတို့၏ဘုရင်၊ လူသားတို့၏ကိုးကွယ်ရာအရှင်ဟူ၍ မိန့်ဆိုထားတော်မူခြင်းဖြစ်သည်။

အလ္လာဟ်အရှင်မြတ်သည် လူသားတို့ကို စတင်ဖန်ဆင်းမွေးမြူတော်မူသောအရှင်၊ လူသားတို့အား ပိုင်ဆိုင်စိုးမိုး ကွပ်ကဲစီမံအုပ်ချုပ်တော်မူသောအရှင်၊ လူသားတို့ ဆည်းကပ်ကိုးကွယ်ရာ အရှင်သခင်ဖြစ်တော်မူပေရာ လူသားတို့သည် ထိုသို့သော အရှင်မြတ်ထံတော်၌သာ ဘေးအန္တရာယ်အပေါင်းမှ ကင်းလွတ်ရန်ခိုလှုံကြရာသည်။

လူ့လောကတွင် ဖြစ်ပေါ်လျက်ရှိသော ညစ်ကျူးမကောင်းမှု အစုစုတို့သည် မကောင်းသောအကြံအစည် ပေါ်ပေါက်မှု၊ ဇဝေဇဝါဖြစ်မှု၊ တွေဝေယိမ်းယိုင်မှုမှပင် စတင်ဖြစ်သွားသည်သာဖြစ်သည်။ မကောင်းသော အကြံအစည်သည် စိတ်နှလုံးတွင် သက်ရောက်ပြီး ထွက်သွားပါက လူသည် တစ်စုံတစ်ရာ ပြစ်မှားခြင်းမှ လွတ်ကင်းသွားသည်။ အကယ်၍ မကောင်းသော အကြံအစည်သည် အချိန်အတန် ကြာသည်အထိ စိတ်နှလုံးတွင် စွဲကပ်နေသော် လူသည် ပြစ်မှုတစ်စုံတစ်ရာကို နည်းများမဆို ကျူးလွန်မိမည်သာဖြစ်သည်။ ထို့အတွက် ဤကဏ္ဍတွင် မကောင်းသောအကြံအစည်၏ ဘေးအန္တရာယ်မှ လွတ်ကင်းနိုင်ရန် နည်းလမ်းကို သင်ကြားပြသ ထားတော်မူသည်။

ရှိုင်တွာန်သည် လူသားတို့၏ စိတ်နှလုံးများတွင် မကောင်းသော အကြံအစည်များ အတွေးအခေါ် များကို လျှို့ဝှက်စွာထည့်သွင်းပေးသည်။ လူသားတို့အား ဇဝေဇဝါဖြစ်စေသည်။ တွေဝေယိမ်းယိုင် စေသည်။ လူသားသည် အမှုမဲ့ အမှတ်မဲ့နေလျှင် မေ့လျော့နေလျှင် ရှိုင်တွာန်၏ခြယ်လှယ်မှုသည် ပို၍ပို၍ ကြီးထွားလာ၏။ လူသားအား မှောက်မှားစေ၏။ တဖန် လူသားသည် သတိရ၍ အလ္လာဟ်အရှင်မြတ်အား အောက်မေ့တသလိုက်လျှင် ရှိုင်တွာန်သည် နောက်ဆုတ်သွား၏။ ရှိုင်တွာန်၏ အန္တရာယ်ကား ကြီးမားလှ၏။ ထို့အတွက် ယင်းရှိုင်တွာန်၏ အန္တရာယ်မှ ကင်းလွတ်ရန် အလ္လာဟ်အရှင်မြတ်ထံတော်၌သာ ခိုလှုံရာသတည်း။

(၁) လူသားတို့၏ စိတ်နှလုံးများတွင် မကောင်းသောအကြံအစည်များကို ထည့်သွင်းပေးသော ရှိုင်တွာန်မှာ 'ဂျင်န်' သတ္တဝါများတွင်လည်းရှိသည်။ လူသားတို့တွင်လည်းရှိသည်။ ဂျင်န်ရှိုင်တွာန်ရှိသကဲ့သို့ လူရှိုင်တွာန်လည်း ရှိသည်။ ကြည့်-ကုရ်အာန် (၆း၁၁၃)။

သို့ဖြစ်ပေရာ လူသားတို့သည် ဂျင်န်ရှိုင်တွာန်၊ လူရှိုင်တွာန်တို့ ထည့်သွင်းပေးသော မကောင်းသော အကြံအစည် အတွေးအထင်များ၏ ဘေးအန္တရာယ်မှ လွတ်ကင်းနိုင်ကြရန်အတွက် အလ္လာဟ်အရှင်မြတ်ထံ တော်၌သာ ခိုလှုံကြရမည်သာတည်း။

ဤအကြောင်းနှင့်စပ်လျဉ်း၍ ကုရ်အာန် (၆း၁၁၃) ၏အဖွင့်တွင်လည်း အကျယ်ရေးသားခဲ့ပေပြီ။

# فهرس بأسماء السور
# မာတိကာ

# فهرس بأسماء السور
# မာတိကာ

# فِهْرِسُ بِأَسْمَاءِ السُّوَرِ
# မာတိကာ

# فهرس بأسماء السور
# မာတိကာ

# فهرس بأسماء السور

# မာတိကာ






**ဖဟ်ဒ်ဘုရင် ကုရ်အာန်ကျမ်းမြတ် ပုံနှိပ်တိုက်**

---

စာတိုက်သေတ္တာအမှတ် ၆၂၆၂ မဒီနဟ်မုနဝွရဟ်၊ စအူဒီအရေဗျနိုင်ငံ။

إنّ وزارة الشؤون الإسلامية والأوقاف والدعوة والإرشاد

في المملكة العربيّة السّعودية

المشرفة على مجمّع الملك فهد

لطباعة المصحف الشريف في المدينة المنوّرة

إذ يسرّها أن يصدر المجمّع هذه الطّبعة من القرآن الكريم

وترجمة معانيه إلى اللغة البورمية

تسأل الله أن ينفع بها النّاس

وأن يجزي

خادم الحرمين الشريفين الملك فهد بن عبد العزيز آل سعود

أحسن الجزاء على جهوده العظيمة في نشر كتاب الله الكريم

والله وليّ التوفيق

## ဒါဝါသ်နှင့် ဝကာဖ်ရေးရာ၊ အစ္စလာမ်မစ်ဝန်ကြီးဌါန

စအူဒ်မျိုးနွယ်ဖွား ဘုရင် ဖဟာဒ်ဗင်န် အဗ္ဗဒူလ်အဇီးဇ်၏ အမိန့်တော်ဖြင့် ဤ မြန်မာဘာသာပြန် ကျမ်းမြတ်ကုရ်အာန်ကို မဒီနာမြို့တော်တွင် ပုံနှိပ်ခဲ့ပါသည်။

ဤ ကျမ်းမြတ်ကုရ်အာန် မြန်မာဘာသာပြန်စာအုပ်ကို ပြည်ထောင်စု မြန်မာနိုင်ငံသူ နိုင်ငံသား မွတ်စ်လင်မ်များသည် လေ့လာဖတ်ရှုမှတ်သားနာယူ၊ ကျင့်ကြံအားထုတ်နိုင်မည်ဟု မျှော်လင့်ရပါသည်။

**ⓒ مجمع الملك فهد لطباعة المصحف الشريف ، ١٤١٩هـ**

***فهرسة مكتبة الملك فهد الوطنية أثناء النشر***

مجمع الملك فهد لطباعة المصحف الشريف

القرآن الكريم وترجمة معانيه إلى لغة البورما — المدينة المنورة

١٤٦٤ ص ، ١٤×٢١سم

ردمك : ×-٧٧-٧٧٠-٩٩٦٠( مجموعة)

٠-٩٩-٧٧٠-٩٩٦٠ (ج٢)

النص باللغة البورمية

١- القرآن — ترجمة — اللغة البورمية أ — العنوان

ديوي ٢٢١،٤٩٥٧ ١٩/٤١٠٧

**رقم الإيداع : ١٩/٤١٠٧**

**ردمك : ×-٧٧-٧٧٠-٩٩٦٠ (مجموعة)**

**٠-٩٩-٧٧٠-٩٩٦٠ (ج٢)**

# ကုရ်အာန်

ကျမ်းမြတ်

မြန်မာ ဘာသာ ပြန်

---

ဒုတိယ တွဲ

အစောင် (၁၆) မှ (၃၀) ထိ